



မြသန်းတင့်

# စစ်နှင့်ငြိမ်းချမ်းရေး

# WAR AND PEACE

LEV TOLSTOY

မြသန်းတင့်

# စစ်နှင့် ငြိမ်းချမ်းရေး

## WAR AND PEACE

## LEV TOLSTOY

(ဒုတိယတွဲ)

တတိယအကြိမ်

# စာအုပ်ပုံနှိပ်ခြင်းဆိုင်ရာမှတ်တမ်း

**ပထမအကြိမ်**၊ ၁၂ တွဲ(ပုဂံစာအုပ်တိုက်) [၁၉၆၅ ခုနှစ်မှ ၁၉၇၂ ခုနှစ်အထိ]

**ဒုတိယအကြိမ်**၊ ပ+ဒု ပေါင်းချုပ်(သင့်စာပေ) [၁၉၇၄ ခုနှစ်၊ ဩဂုတ်လ၊

**တတိယအကြိမ်**၊ ပ+ဒု ပေါင်းချုပ်(အမေ့ဥယျာဉ်) [၂ဂဂ၇ ခုနှစ်၊ ဇူလိုင်လ၊
အုပ်ရေ ၅ဂဂ) '

**စာမူခွင့်ပြုချက်အမှတ်** (၅၀၀၉၉၅၀၆ဂ၈]

**မျက်နှာဖုံးခွင့်ပြုချက်အမှတ်** (၅၀၀၆၅၁ဂ၆ဂ၇)

**စီစဉ်ထုတ်လုပ်မှု** အောင်မြင့်နိုင်

**မျက်နှာဖုံးပန်းချီ** တင်မောင်မျင့်

**အတွင်းပုံနှိပ်သူ ,**
ဒေါ်ရွှေ(သုခအော့ဖ်ဆက်) ၁၂၈၊၄၆လမ်း၊
ဗိုလ်တထောင်မြို့နယ်။ ရန်ကုန်မြို့ ။

**မျက်နှာဖုံးပုံနှိပ်သူ**
ဦးဇော်မြင့်ဝင်း(ကာလာဇံ အော့ဖ်ဆက်) ၁၈၄၊ ၃၁ လမ်း၊
ပန်းပဲတန်းမြို့နယ်၊ ရန်ကုန်မြို့။

**ထုတ်ဝေသူ**
ဦးကျော်ဆန်း(ရဲအောင်စာပေ) ၅၈ဂ-ခ၊ အောင်ရတနာလမ်း၊

သက်ကျွန်းမြို့နယ်၊ ရန်ကုန်မြို့။

**စာအုပ်ချုပ်** - ကိုမြင့်၊ ညီဝင်းမြင့်

**အတွင်းဖလင်** - ပုံရိပ်ရှင် nzforessoso - Dream City

**တန်ဖိုး** - ၇ ၅ ၀ ၀ ကျပ်)

# About Us

ကျွန်တော်တို့ အဖွဲ့သည် မြန်မာနိုင်ငံအတွင်းက e-Books Reader အသုံးပြုသူများနှင့် Digital Devices တွေမှာ စာဖတ်သူများအတွက် မြန်မာစာအုပ်များကို ဖတ်ရှုနိုင်စေရန် ကူညီပေးဖို့ ရည်ရွယ်ဖွဲ့စည်းထားသော အဖွဲ့ဖြစ်ပါသည်။

တိုးတက်လာသော နည်းပညာများအရ e-books Reader အသုံးပြုသူများလည်း များပြားလာပြီဖြစ်သော်လည်း နိုင်ငံတွင်းမှာတော့ e-books Reader အသုံးပြုသူများ အတွက် မြန်မာစာအုပ် ဖတ်ရှုနိုင်ရန်အလွန် ခက်ခဲလျက်ရှိသည်။ ထို့ပြင် လက်ရှိမှာလည်း မြန်မာစာအုပ်များကို Digital နည်းဖြင့် ဖြန့်ဝေမှု လုံးဝ မရှိသလောက် ဖြစ်သည်။

ထိုအခက်ခဲများကို ကျနော်တို့ တတ်နိုင်သည့်ဘက်မှ ကူညီပေးနိုင်ရန် ရည်ရွယ်ပြီး ယခု Ebooks4MM website လေးကို ပြုလုပ်ထားခြင်းဖြစ်ပါသည်။

## မူပိုင်ခွင့်ချိုးဖေါက်ပြီး ကိုယ်ကျိုးအတွက် လုံးဝ(လုံးဝ) အသုံးမပြုပါ။

"စာရေးဆရာများနှင့် စာပေထုပ်လုပ်ရေးများသို့ ပန်ကြားချက်"

စာပေထုပ်ဝေသူတို့ နှင့် ဆရာ၊ ဆရာမများအနေဖြင့် မြန်မာနိုင်ငံအတွင်းက e-Books Market အတွက်ကိုလည်း ဖြည့်ဆည်းပေးနိုင်ရန် အကြံပြုလိုပါသည်။ eBooks Digital Market ဟာ မြန်မာနိုင်ငံမှာ ကြီးမားစွာရှိနေပါပြီ။ Digital Product ဖြစ်သည့် အတွက် ဆရာ၊ ဆရာမများအတွက်လည်း ပိုမိုအကျိုးများပါသည်။

ကျွန်ုပ်တို့ ယခုကဲ့သို့ မူပိုင်ခွင့်ချိုးဖေါက်နေမှုများကို လည်း လိုအပ်ချက်အရဟု နားလည်ခွင့်လွှတ်ပေးပြီး စာချစ်သူ၊ စာဖတ်သူများဆီသို့ တစ်နည်းနည်းနှင့် ပို့ပေးနေသည်ဟု နားလည်ပေးကြပါရန် ပန်ကြားတောင်းဆိုအပ်ပါသည်။



"စာဖတ်သူများသို့ ပန်ကြားချက်"

စာဖတ်သူများသို့ ပန်ကြားလိုသည်မှာ eBook ဖတ်ပြီးလို့ "ကြိုက်နှစ်သက်တယ်" စာရေးသူများအား "အသိမှတ်ပြုသင့်တယ်"လို့ ယူဆပြီး ဖတ်ပြီးသွားလျှင်တောင် လက်လှမ်းမှီပါက မူရင်းစာအုပ်ကို ဝယ်ယူအားပေးကြပါ။ စာအုပ်များဝယ်ယူမှု မရှိလျှင် မိမိကြိုက်သော ဆရာ၊ ဆရာမတို့ နောက်ထပ်နောက်ထပ်သော ဖန်တီးမှုတို့ ပြုလုပ်ရန် ခက်ခဲပါလိမ့်မည်။ ထိုအခါ စာချစ်သူ၊ စာဖတ်သူများနှင့် မြန်မာနိုင်ငံ စာပေလောက အတွက် အနာဂတ်ကလေးငယ်များအတွက် များစွာ နစ်နာကြပါလိမ့်မည်။



ကျွန်တော်တို့ အဖွဲ့သားများဆိုလျှင်လည်း (Ebook ရှိလျှင်) Ebook များ ကို အဓိက ဖတ်ကြပါသည်။ ပြီးလျှင် စာရေးဆရာတို့အား "အသိမှတ်ပြုသောအားဖြင့်" တစ်ခုထည်းကို ရည်ရွယ်ပြီး စာအုပ် ဝယ်လိုက်တာတွေ များစွာရှိပါသည်။ ထို့ကြောင့် လက်လှမ်းမှီပါက မိမိကြိုက်နှစ်သက်သော ဆရာ၊ဆရာမတို့၏ မူရင်း စာအုပ်များကို ဝယ်ယူအားပေးကြဖို့ တိုက်တွန်းပါသည်။

# Ebook History

**ဒီစာအုပ်ဟာ အရင်က kfx Version ရှိပြီးဖြစ်ပါတယ်။ ကျနော် စာအုပ် မရှိသေးဘူး ထင်ပြီး ပြုလုပ်ပေးနေစဉ်အတွင်း မှာ အကိုတစ်ယောက်က ပေးပို့လာလို့ kfx Version ကို ရရှိခဲ့ပါတယ်။**

**အဲဒီ kfx Version ကို ပြန်လည် Formart ချဖို့ ကြိုးစားကြည့်တဲ့အခါ။ ကိုယ်တိုင် အဆုံးလုပ်သလောက် နီးနီးကြာမြင့်နေတာ တွေ့ရတာကြောင့် အစအဆုံးဘဲ ပြန် လုပ်ပေးလိုက်တာ ဖြစ်ပါတယ်။**

**ယခင် kfx ပြုလုပ်ပေးခဲ့ကြသော ညီအကိုများကို လည်း အထူး ကျေးဇူးတင် အသိအမှတ်ပြုပါတယ်။**

# စစ်နှင့်ငြိမ်းချမ်းရေး ဒုတိယတွဲနှင့် စပ်လျဉ်း၍ အရေးကြီးသော အဖြစ်အပျက်များပြ နေ့စွဲဇယား

(နေ့စွဲများကို ၁၉-ရာစုနှစ် ပြက္ခဒိန်ဟောင်းအရ ပြထားပါသည်။ ယနေ့ မျက်မှောက်ခေတ်သုံး ၂၀-ရာစုနှစ် ပြက္ခဒိန်အရ သိလိုလျှင် ယခုနေ့စွဲများတွင် ၁၂-ရက်စီ ပေါင်းထည့်ရပါမည်။) ဇူလိုင်၊ ဩဂုတ်။

## ၁၈၁၂-ခု

၁၃ ဇူလိုင် ဩစထရိနာတိုက်ပွဲ၌ ပါဗလိုဂရက် မြင်းတပ်များ ပါဝင်တိုက်ခိုက်သည်။

၄ ဩဂုတ် အယ်ပါတစ် စမိုးလင့်သို့ ရောက်သည်။ အမြောက်သံများ ပထမဆုံး ကြား ရ၏။

၅ ဩဂုတ် စမိုးလင်းမြို့ကို ရန်သူတို့ အမြောက် စိန်ပြောင်းဖြင့် ပစ်ခတ်ကြသည်။

၇ ဩဂုတ် ဘိုလကွန်စကီ "တောင်ကတုံး"မှ ဘိုဂူချာရိုဗိုသို့ ပြောင်းရွှေ့သည်။

၈ ဩဂုတ် ကူတူဇော့ဗ် စစ်သေနာပတိချုပ်အရာ ခန့်အပ်ခြင်းခံရသည်။

၁၀ ဩဂုတ်     အင်ဒရေ ကွပ်ကဲသည့်စစ်ကြောင်း "တောင်ကတုံး" အနီး ရောက်လာသည်။

၁၇ ဩဂုတ်     စစ်သေနာပတိချုပ် ကူတူဇော့ဗ် ဇာရီဗိုဇေမစ်ရှေ့သို့ ရောက်လာသည်။ တပ် မတော် ကွပ်ကဲမှုကို လက်ခံသည်။

၁၇ ဩဂုတ်     ဘိုဂူချာရိုဗိုသို့ နီကိုလေ ရောက်လာ၏။

၂၄ ဩဂုတ်     ရှိဗာဒီနိုခံတပ်တိုက်ပွဲ ဖြစ်ပွားသည်။

၂၆ ဩဂုတ်     ဘိုရိုဒီနိုတိုက်ပွဲ ဖြစ်ပွားသည်။

၁ စက်တင်ဘာ     ရုရှားတပ်များ မော်စကိုမှဆုတ်ရန် အမိန့်ထုတ်သည်။

၆ အောက်တို     တာရူတီနိုတိုက်ပွဲ ဖြစ်သည်။ ပြင်သစ်တို့ မော်စကိုမှ ဆုတ်ခွာသည်။

၁၂ အောက်တို     မာလိုယာရိုစလာဗက်တိုက်ပွဲ ဖြစ်သည်။

၂၁ အောက်တို     ဗျာစမာတွင် ကော့ဆက်မြင်းတပ်များက ပြင်သစ်တပ် များကို စတင်တိုက်ခိုက် သည်။

၂၈ အောက် - ၁ နို     ပြင်သစ်တို့ စမိုးလင့်သို့ ဆုတ်ခွာသည်။

၄-၈ နိုဝင်ဘာ     ကရပ်စနီ တိုက်ပွဲဖြစ်သည်။

၉-၁၀ နိုဝင်ဘာ     ပြင်သစ်ဗိုလ်ချုပ်နေးလ် နောက်ဖျားတပ်နှင့်အတူ ဩ ရှားသို့ ဆုတ်ခွာသည်။

၁၄-၁၆ နိုဝင်ဘာ     ပြင်သစ်တို့ ဘီရဲဇီနာမြစ်ကို ဖြတ်၍ ဆုတ်ခွာသည်။

၂၆ နိုဝင်ဘာ     စမိုဂေါ်နီ၌ ပြင်သစ်စစ်တပ်ကြီးကို နပိုလီယန် စွန့်ပြေး၏။

၆ ဒီဇင်ဘာ　　နပိုလီယန် ပါရီသို့ ပြန်ရောက်သည်။

# ပထမတွဲ ဇာတ်လမ်း အကျဉ်းချုပ်

ပီယာသည် ရုရှားပြည်နယ်တွင် အချမ်းသာဆုံး သူကြွယ်တစ်ဦးဖြစ်သူ မြို့စားကြီး ဘီဇူးကော့ဗ်၏ ကိတ္တိမသား (တရားမဝင်သား)တစ်ဦးဖြစ်သည်။ ပြင်သစ်ပြည် ပါရီမြို့တော်သို့ မြို့စားကြီးက ပညာသင်လွှတ်လိုက်သော်လည်း ပီယာသည် သောက်စားမူးယစ်၍ အချိန်ဖြုန်းခဲ့သည်။ ပြင်သစ်တော်လှန်ရေး သဘောတရားများနှင့် နပိုလီယန်၏ စွမ်းဆောင်ချက်များကို အထင်ကြီး၍ ပြန်လာခဲ့သည်။ မော်စကိုသို့ ပြန်ရောက်သည့်အခါတွင်လည်း ပီယာသည် သောက်စားမူးယစ်ရင်းသာ အချိန်ကုန်နေခဲ့သည်။ ခမည်းတော် မြို့စားကြီးက ဘုရင့်အမှုထမ်းအဖြစ်သို့ ဝင်ရောက် ဆောင်ရွက်ရန်ပြောသော်လည်း ပီယာသည် ဘာကိုမျှ မည်မည်ရရ မလုပ်။

ပီယာ မော်စကိုမြို့သို့ ပြန်ရောက်သည့်အချိန်မှာ ၁၈၀၅-ခု ဖြစ်သည်။ ထိုအချိန်တွင် နပိုလီယန်သည် အကြောင်းအမျိုးမျိုးပြကာ ဥရောပနိုင်ငံအများအပြားကို တိုက်ခိုက်သိမ်းပိုက်လျက်ရှိသည်။ နပိုလီယန်အား ဥရောပ တိုက်မှ ဧကရာဇ်များ၊ ဘုရင်များ၊ မှူးမတ် သေနာပတိများက ဆန့်ကျင် ကန့်ကွက်နေချိန်ဖြစ်သည်။ တစ်ညနေ၌ ပီယာသည် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာရှားရား တည်ခင်းသည့် မင်းပွဲသဘင်သို့ လာခဲ့သည်။ ထိုမင်းပွဲ သဘင်သို့ တက်ရောက်လာသူ အထက်တန်းလွှာမှ မင်းစိုးရာဇာများအားလုံးက ပီယာကို အထင်သေးကြသည်။ နပိုလီယန်ကို ထောက်ခံသည့် အယူအဆရှိသူဟု ကဲ့ရဲ့ကြသည်။ မြို့စားကြီး ဘီဇူးကော့ဗ်၏ တရားမဝင်သားဖြစ်သည် ဟု အထင်သေးကြသည်။ ထိုမင်းပွဲသဘင်သို့ လာရောက်ကြသူများတွင် ဟယ်လင်မင်းသမီး၊ ၎င်း၏ခမည်းတော် မင်းသားကြီး

ဗာစီလီ၊ ၎င်း၏သားတော် ဟစ်ပိုလီတီ၊ အနာတိုလီ စသူတို့လည်း ပါဝင်သည်။ ၎င်းတို့အားလုံး ကလည်း အခြားသူများနည်းတူ ပီယာကို အထင်သေးကြသည်။ ထိုမင်းပွဲသဘင်တွင် ပီယာမှာ စကားပြောဖက်မရှိဘဲ ယောင်တီးယောင်တ ဖြစ်လျက်ရှိသည်။ ပီယာနှင့် စကားပြော၍ရသူမှာ မင်းသားကလေးအင်ဒရေတစ်ဦးတည်းသာရှိသည်။

မင်းသားကလေး အင်ဒရေမှာ အငြိမ်းစားဗိုလ်ချုပ်ကြီး ဘိုလကွန်စကီ၏ သားတော်ဖြစ်၍ ဇာဘုရင်၏ ကိုယ်ရံတော်တပ်တွင် ဗိုလ်မှူးကြီးအဖြစ် အမှုထမ်းလျက်ရှိသည်။ ရုရှားနှင့် ဩစတြီးယားတို့ မဟာမိတ်စာချုပ် ချုပ် ဆိုထားစဉ် နပိုလီယန်က ဩစတြီးယားကို ဝင်တိုက်သဖြင့် ရုရှားတပ်များ ဩစတြီးယားသို့ စစ်ချီသွားရတော့မည် ဖြစ်သည်။ မင်းသားကလေး အင်ဒရေသည် ၎င်း၏ကြင်ရာတော် လီဇာနှင့်အတူ မင်းပွဲသဘင်သို့ ရောက်လာစဉ် ပီယာနှင့် တွေ့ခြင်းဖြစ်သည်။ ၎င်းတို့နှစ်ဦးမှာ ရင်းနှီးသော ရောင်းရင်းများဖြစ်ကြသည်။ မင်းသားကလေး အင်ဒရေသည် ဩစတြီးယားအတွက် ရုရှားတပ်များက ဝင်တိုက်ပေးရသည့် ကိစ္စကို မကျေမနပ်ဖြစ်လျက်ရှိသည်။ ပလွှား၍ တခြားယောကျ်ားများနှင့် ရင်းရင်းနှီးနှီး နေလေ့ရှိသော ကြင်ရာတော်ကိုလည်း မကျေမနပ်ဖြစ်လျက် ရှိသည်။

မကြာမီ ပီယာ၏ခမည်းတော် မြို့စားကြီး ဘီဇူးကော့ဗ် ကံတော်ကုန်သည်တွင် အမွေများကို မည်သူ့ ပေးခဲ့ မည်နည်းဟု တစ်မြို့လုံးက စိတ်ဝင်စားနေကြသည်။ သေတမ်းစာကို ဖွင့်ကြည့်သောအခါတွင် ပီယာအား အမွေစား အမွေခံအဖြစ်ပေးခဲ့သဖြင့် ပီယာမှာ နေ့ချင်းညချင်း သူကြွယ်တစ်ဦး ဖြစ်သွားသည်။ ဤတွင် နဂိုက ပီယာကို အထင် သေးခဲ့ကြသူ ကဲ့ရဲ့ကြသူများကလည်း ပီယာကို ချက်ချင်း အထင်ကြီးသွားကာ သဘောထားတစ်မျိုး ပြောင်းသွားကြသည်။

မြို့စားကြီး ရော့စတော့ဗ်သည် ချမ်းသာသူတစ်ဦး မဟုတ်သော်လည်း ရက်ရောသည်။ အသုံးအစွဲကြီးသည်။ လူတစ်ဖက်သားကို သနားလွယ်သည်။ အိမ်တွင် ဆင်းရဲသော ဆွေမျိုးများကို ခေါ်၍ကျွေးကာ ကူညီစောင်မတတ်သည်။ ဘိုးရစ်စ်မှာ မြို့စားကြီးရော့စတော့ဗ်၏ ဆွေမျိုးနီးစပ်တစ်ဦးဖြစ်၍ ထိုအိမ်တွင်မှီခိုနေရသည်။ မြို့စားကြီး ရော့စတော့ဗ်၏ သမီးနာတာရှာနှင့်လည်း လူငယ်ဘာဝ ရည်င်နေကြသည်။ မြို့စားကြီး၏သား နီကိုလေနှင့် မြို့စားကြီး မွေးစားထားသည့် ဆွန်ယာတို့ကလည်း တစ်ဦးနှင့်တစ်ဦး ရည်ငံနေကြသည်။ ပီယာမှာ မြို့စားကြီး ရော့စတော့ဗ်မိသားစုနှင့်လည်း ရင်းနှီးသူဖြစ်သဖြင့် ထိုအိမ်သို့ မကြာခဏ ဝင်ထွက်နေတတ်သူ ဖြစ်သည်။

မင်းသားကြီး ဘိုလန်စကီသည် မော်စကိုမြို့နှင့် မိုင်အနည်းငယ်ကွာသည့် “တောင်ကတုံး” ပိုင်စားနယ်မြေ တွင် သမီးကြီး မင်းသမီးကလေး မေရီနှင့်အတူ နေထိုင်လျက်ရှိသည်။ မင်းသားကလေး အင်ဒရေ ရောက်လာ၍ မိမိ စစ်ထွက်သွားတော့မည်ဖြစ်ကြောင်း၊ မိမိ၏ ကြင်ရာတော်ကို ခမည်းတော် အစ်မတော်တို့နှင့် အတူ “တောင်ကတုံး” စံအိမ်တွင် ထားခဲ့လိုကြောင်း၊ ကြင်ရာတော်မှာ ကိုယ်လေးလက်ဝန်နှင့်ဖြစ်၍ အစစအရာရာ ဂရုစိုက်ပါမည့်အကြောင်း ဖြင့် ခမည်းတော်ကြီးနှင့် အစ်မတော်တို့ထံ အပ်နှံပြီးနောက် စစ်မြေပြင်သို့ ထွက်ခွာသွားသည်။

ရုရှားနှင့် ဩစတြီးယား စစ်တပ်များသည် အကြီးအကျယ် အရေးနိမ့်ကာ ဆုတ်ခွာလာခဲ့ကြရသည်။ ရုရှား တို့ဘက်မှာ ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်း ဦးစီးတိုက်သည်။ ထိုတိုက်ပွဲများတွင် ဗိုလ်မှူးကြီးတစ်ဦးဖြစ်သူ မင်းသားကလေး အင်ဒရေလည်း ပါဝင်တိုက်ခိုက်သည်။ မြို့စားကြီး ရော့စတော့ဗ်၏သား မြို့စားကလေး နီကိုလေသည်လည်း မြင်း တပ်ဗိုလ်ကလေးတစ်ဦးအဖြစ် ဝင်ရောက်တိုက်ခိုက်ခဲ့

သည်။ သို့ရာတွင် ဩစတြီးယားတပ်များနှင့် ၎င်း၏ မဟာမိတ် ရုရှားတပ်များ အားလုံး စစ်မြေပြင်တွင် အကွဲကွဲ အပြဲပြဲဖြစ်ကာ ဆုတ်ခွာလာခဲ့ကြရသည်။

ထိုအချိန်တွင် မင်းသားကြီး ဗာစီလီသည် ရုရှားပြည်တွင် အချမ်းသာဆုံး သူကြွယ်တစ်ဦးဖြစ်သူ ပီယာကို သမက်ဖမ်းရန် ကြိုးစားလျက်ရှိသည်။ ပီယာသည် စိတ်ဓာတ်ပျော့ညံ့သူဖြစ်သည့်အတိုင်း အမျိုးသမီး ဟယ်လင်၏ ဆွဲဆောင်မှုကို မခံ နိုင်တော့ဘဲ လက်ထပ်ယူလိုက်သည်။ မင်းသမီး ဟယ်လင်ကို တကယ်ချစ် သလော မချစ်သလောဟုပင် ခွဲခြားမရ။ မင်းသားကြီး ဗာစီလီသည် သမီးကို သူကြွယ်တစ်ဦးနှင့် ပေးစားပြီးနောက် သား ဟစ်ပိုလီတီကိုလည်း မင်းသားကြီး ဘို လန်စကီ၏သမီး မေရီနှင့် လက်ထပ်ပေးရန် ကြိုးပမ်းပြန်သည်။ သို့ရာတွင် မင်းသားကြီး ဘိုလကွန်စကီက ငြင်းလွှတ်လိုက်သဖြင့် မင်းသားကြီး ဗာစီလီတို့ သားအဖ တပ်ခေါက် ပြန်လာခဲ့ကြ ရသည်။

မော်စကိုမြို့ရှိ မြို့စားကြီး ရော့စတော့ဗ်တို့၏ သားကြီး နီကိုလေသည် တပ် မှခွင့်ယူ၍ ပြန်လာခဲ့သည်။ မော်စကိုတွင် မြင်းတပ်ဗိုလ်တစ်ဦးနှင့်အတူ မူးယစ် သောက်စားခြင်း၊ ဖဲကစားခြင်းဖြင့် အချိန်ကုန်လျက်ရှိသည်။ ထိုအချိန်တွင် ဘိုးရစ် စ်မှာလည်း ကိုယ်ရံတော်ဗိုလ်တစ်ဦးဖြစ်ကာ ကြီးပွားလျက်ရှိနေသဖြင့် နာတာရှာ တို့ကို အရာမသွင်းတော့။ မြို့စားကြီး ရော့စတော့ဗ်၏ ကူညီစောင်မမှုဖြင့် ဤ အခြေသို့ ရောက်လာခြင်းဖြစ်သည့်တိုင် ကျေးဇူးမသိတတ်တော့။ နာတာရှာနှင့် လည်း အဆက်ဖြတ်ကာ သူကြွယ်သမီးတစ်ဦးကို ပိုးပန်းလျက်ရှိသည်။

ပီယာနှင့် ဟယ်လင်မင်းသမီးတို့၏ အိမ်ထောင်ရေးသည် အဆင်မပြေ။ ဟယ်လင်သည် ကာမပိုင်လင်ရှိသည့် တိုင် အခြားယောက်ျားများနှင့် ဖောက်ပြား လျက်ရှိသည်။ ယခုတလောတွင် ဟယ်လင်သည် ဒိုလိုကော့ဗ်ဆိုသူ လူ ရမ်းကား စစ်ဗိုလ်တစ်ဦးနှင့် ဖောက်ပြားလျက်ရှိသည်။ တစ်နေ့ အင်္ဂလိပ်ကလပ် ညွှေ့ခံပွဲ

တစ်ခုတွင် ဒိုလိုကော့ဗ်က ပီယာအား ရန်စသဖြင့် နှစ်ယောက်ချင်း ချိန်းသတ်သည့် အဖြစ်သို့ ရောက်ကြသည်။ ချိန်းသတ်ပွဲတွင် ဒိုလိုကော့ဗ် သည် ပီယာ့လက်ချက် ကြောင့် ဒဏ်ရာရသွားသည်။ ပီယာသည် မိမိလက်ချက်ဖြင့် လူတစ်ယောက် ဒဏ်ရာရသွား ခြင်း၊ အိမ်ထောင်ရေး အဆင်မပြေခြင်း စသည်တို့ကြောင့် စိတ်ညစ် ကာ ဟယ်လင်မင်းသမီးနှင့် ခွဲခွာနေရန် ဆုံးဖြတ် လျက် ရုရှားပြည်တောင်ပိုင်းသို့ စိတ်ပြေလက်ပျောက် ခရီးထွက်သွားခဲ့သည်။

မင်းသားကြီး ဘိုလကွန်စကီ၏သား မင်းသားကလေး အင်ဒရေမှာ စစ်မြေပြင်တွင် ဒဏ်ရာရရာမှ ပျောက် ဆုံးလျက် ရှိသည်။ သတင်းအစအန ရှာ၍မ ရနိုင်အောင် ဖြစ်လျက်ရှိသဖြင့် တိုက်ပွဲတွင် ကျဆုံးသွားပြီဟု ယူဆ လက်ရှိသည်။ ၎င်း၏ကြင်ရာတော် လီဇာမှာလည်း နေ့စေ့လစေ့ဖြစ်၍ မီးဖွားတော့မည့်ဆဲဆဲ ဖြစ် နေသည်။ ယောက်မ တော် မင်းသမီးလေး မေရီသည် ထိုသတင်းကို လီဇာ မသိ အောင် ဖုံးဖိထားကာ လီဇာ၏ကျန်းမာရေးကိုသာ ဂရုစိုက် စောင့်ရှောက်လျက် ရှိ သည်။ မုန်တိုင်းများ တိုက်ခတ်လျက်ရှိသော တစ်ညတွင် လီဇာ ကမ္ဘဇလေ လှုပ်ရှားလျက်  ရှိသဖြင့် မော်စကိုမှ ဂျာမန်သမားတော်ကြီးတစ်ဦးကို အပင့် ခိုင်းလိုက်ရသည်။ ဂျာမန်သမားတော်ကို စောင့်မျှော်လျက် ရှိစဉ် စစ်မြေပြင်တွင် ကျဆုံးသွားပြီဟု ယူဆထားသော မင်းသားကလေး အင်ဒရေ ပြန်ရောက်လာ သည်။ မင်းသား ကလေး အင်ဒရေသည် ကြင်ရာတော်အပေါ်တွင် စိမ်းကားခဲ့ မိသည်များကို စိတ်မကောင်းဖြစ်ကာ နောင်တရလျက် ရှိသည်။ သူတစ်ပါးအတွက် ဝင်တိုက်ပေးရသည့် စစ်ပွဲကိုလည်း နာကြည်းလျက်ရှိသည်။ ရှေ့တွင် မိမိ၏ မိသားစု နှင့်အတူ အေးချမ်းစွာ နေထိုင်တော့မည်ဟု ဆုံးဖြတ်ချက် ချခဲ့သည်။

သို့ရာတွင် အချိန်နှောင်းလေပြီ။

မင်းသားကလေး အင်ဒရေ ရောက်လာပြီး မကြာမီတွင် ကြင်ရာတော် လီဇာ သည် သားငယ်တစ်ယောက်ကို မွေးဖွားကာ ကွယ်လွန်သွားခဲ့သည်။ ပီယာသည် စိတ်ပျက်လက်ပျက်နှင့် ရုရှားပြည်တောင်ပိုင်းသို့ ခရီးထွက်လာခဲ့ရာ၌ လမ်းတွင် ဖ ရီးမေဆင်ဂိုဏ်းဟုခေါ်သော ညီအစ်ကိုတော်ဂိုဏ်း ခေါင်းဆောင်တစ်ဦးနှင့် တွေ့သည်။ ညီအစ်ကိုတော် ဂိုဏ်း၏တရားများကို ကြားနာရသည့်အခါတွင် အား သစ်ခွန်သစ်များ ရလာခဲ့သည်။ ယခင်က ပီယာသည် ဘဝကြီး ကို ငြီးငွေ့စိတ်ပျက် လျက်ရှိသည်။ လူ့ဘဝသည် အနှစ်သာရ ကင်းမဲ့လှသည်ဟု ယူဆခဲ့သည်။ လိုလေသေးမရှိ ချမ်းသာသူတစ်ယောက်၊ မယားချောတစ်ယောက်၏ လင်တစ်ဦး ဖြစ်ခဲ့သော်လည်း သူ့အဖို့ လူ့ဘဝတွင် ပျော်ရွှင်မှု၊ စိတ်၏ ငြိမ်းချမ်းမှုကို ရှာ၍မရ နိုင်ဘဲ ဖြစ်ခဲ့သည်။ ယခု ညီအစ်ကိုတော်ဂိုဏ်းဝင်၏တရားများကို ကြားနာရသည့် အခါတွင်မူ ဘဝသစ်သို့ ရောက်လာသည်ဟု ထင်မှတ်လာခဲ့သည်။

ပီယာသည် ညီအစ်ကိုတော်ဂိုဏ်းဝင်၏ တရားများကို ကြားနာပြီးနောက် အားသစ်မာန်သစ် အပြည့်ဖြင့် ၎င်း၏ ရောင်းရင်းကြီး မင်းသားကလေး အင်ဒရေ ထံ လာခဲ့သည်။

ထိုအချိန်တွင် မင်းသားကလေး အင်ဒရေမှာ စစ်တပ်မှထွက်ကာ ခြံစိုက် လျက်ရှိသည်။ မင်းသားကလေး အင်ဒရေသည် နောက်ထပ် အိမ်ထောင်လည်း မ ပြုတော့။ ပီယာနှင့် အင်ဒရေသည် အမူအကျင့်ချင်း ခြားနားနေကြ သည်။ ပီယာ က စိတ်အားထက်သန်သလောက် မင်းသားကလေး အင်ဒရေက အေးစက်စက်ဖြစ် နေသည်။ ပီယာက လောကကြီးကို အကောင်းဘက်က မြင်သလောက် မင်းသား ကလေး အင်ဒရေက အရာရာကို အဆိုးဘက်က မြင် လျက် ရှိသည်။ ပီယာက လောကကြီးတွင် ပျော်ရွှင်မှု၊ စိတ်၏ ငြိမ်းချမ်းမှုကို အမောတကော ရှာဖွေလျက်ရှိ သလောက် မင်းသားကလေး အင်ဒရေက လောကတွင် ပျော်ရွှင်မှု စိတ်၏ငြိမ်းချမ်း မှုတို့ မရနိုင်၊ ထို့ကြောင့် ရှာဖွေ၍လည်း မတွေ့နိုင်ဟု ယူဆလျက်ရှိသည်။

မင်းသားကလေး အင်ဒရေသည် ကိစ္စတစ်ခုဖြင့် အိုထရာနိုသို့ ထွက်လာခဲ့ သည်တွင် နာတာရှာတို့အိမ်တွင် တစ်ည တည်းခိုခဲ့သည်။ ထိုစဉ် နာတာရှာကို အမှတ်မထင် သွားတွေ့သည်။ နောင်တွင် ဘုရင့်အမှုတော်ထမ်းဘဝ ဖြင့် မော်စကို သို့ ရောက်သည့်အခါတွင်လည်း တော်ဝင်ကပွဲကြီးတစ်ခုတွင် နာတာရှာကို ထပ်၍တွေ့ပြန်သည်။ ယခင်က ညှိုးနွမ်းလျက်ရှိသော မင်းသားကလေး အင်ဒရေ၏စိတ်သည် နာတာရှာကို တွေ့လိုက်သည့်အခါတွင် လန်းဆန်းလာသည်။ ယခင်က လောကကြီးကို စိတ်ပျက် ကုန်ခမ်းနေသော်လည်း နာတာရှာနှင့် တွေ့ပြီး နောက်တွင် အားအင် ပြည့်ဖြိုးလာခဲ့သည်။ မင်းသားကလေး အင်ဒရေသည် မိမိ၏အချစ်ကို နာတာရှာအား ဖွင့်ပြောကာ မြို့စား ကြီး ရော့စတော့ဗ်မိသားစုထံ သွားကာ စေ့စပ်ကြောင်းလမ်းခြင်း ပြုသည်။ သို့ရာတွင် မင်းသားကလေး အင်ဒရေ၏ ခမည်းတော် မင်းသားကြီး ဘိုလန်စကီက သဘောမတူ။ တစ်၊ အင်ဒရေ၏အိမ်ထောင်ဖက်သည် ငယ်လွန်းသည်။ နှစ်၊ သားငယ်ကလေးအတွက် မိထွေး ကောင်းမဖြစ်နိုင်။ သုံး၊ အင်ဒရေ၏အိမ်ထောင်ဖက် နာတာရှာသည် မျိုးရိုး အနေဖြင့်လည်း အဆင့်အတန်း နိမ့်လွန်းသည်။ လေး၊ မင်းသားကလေး အင်ဒရေ၏ ကျန်းမာရေးကလည်း မကောင်း၊ ထို့ကြောင့် လက်ထပ်ပွဲကို တစ်နှစ် ရွှေ့ဆိုင်းစေလိုသည်။ ဤအတောအတွင်း မင်းသားကလေး အင်ဒရေ က ၎င်း၏ကျန်းမာရေးအတွက် နိုင်ငံခြားသို့သွား၍ ဆေးကုသင့်သည်။ ဤ အတောအတွင်း နာတာရှာ၏အခြေအနေ ကို စောင့်ကြည့်ရမည်။ တစ်နှစ်ကြာ သည့်တိုင် မင်းသားကလေး အင်ဒရေက နာတာရှာအပေါ် ချစ်မြဲ ချစ်နေသေးလျှင် လက်ထပ်။ လောလောဆယ်တွင် တစ်နှစ်ဆိုင်းငံ့ထားရန် အကြံပေးသည်။ မင်းသားကလေး အင်ဒရေသည် ခမည်း တော်ကြီး၏ အကြံပေးချက်ကို လက်ခံ ကာ နိုင်ငံခြားသို့ ထွက်သွားသည်။

ဤအချိန်တွင် နီကိုလေမှာလည်း တပ်ကထွက်ကာ မြို့စားကြီး ရော့စတော့ဗ်၏ လယ်ယာလုပ်ငန်းများကို ဦးစီးဆောင်ရွက်လျက် ရှိသည်။ နီကိုလေနှင့် ဆွန်ယာမှာလည်း နီးကပ်စွာ နေထိုင်ရသဖြင့် ပျော်ရွှင်လျက်ရှိသည်။ နာတာရှာမှာလည်း မင်းသားကလေး အင်ဒရေ ပြန်လာမည့်အချိန်ကို စောင့်ကြိုလျက်ရှိသည်။ နီကိုလေ၊ နာတာရှာ နှင့် ဆွန်ယာတို့သည် ဤသို့ဖြင့် အမဲလိုက်ခြင်း၊ ပျော်ပွဲစားထွက်ခြင်းတို့ဖြင့် ပျော်ရွှင်လျက်ရှိကြသည်။

မင်းသားကလေး အင်ဒရေ နိုင်ငံခြားမှ ပြန်ရောက်လာတော့မည့် အချိန်မှာ တဖြည်းဖြည်း နီးကပ်လာနေပြီ။ အချိန်နီးလာသည်နှင့်အမျှ နာတာရှာမှာလည်း စောင့်ရခြင်းကို စိတ်မရှည်နိုင်အောင် ဖြစ်လာပြီ။ တစ်နှစ်ပြည့်ခါနီးတွင် မှာတာရှာတို့ မိသားစုသည် အိုထရာနို ကျေးလက်စံအိမ်မှ မော်စကိုမြို့သို့ ရောက်လာခဲ့ကြသည်။ မင်္ဂလာဆောင်တွင် နာတာရှာဝတ်ဖို့ ဝတ်စုံချုပ်ရန်၊ မော်စကိုမြို့အနီးတွင် မြို့စားကြီး၏ ပိုင်စားနယ်မြေအချို့ကို ရောင်းချရန်ဖြစ်သည်။

မော်စကိုတွင်ရှိစဉ် နာတာရှာသည် ယောက္ခမလောင်း မင်းသားကြီး ဘိုလကွန်စကီနှင့် ယောက်မလောင်း မင်းသမီး ကလေး မေရီတို့ကို သွားတွေ့သည်။ ပထမဆုံးအကြိမ် တွေ့လျှင်တွေ့ချင်း သမီးယောက်မနှစ်ယောက် သဘောချင်း မတိုက်ဆိုင်ဘဲ ဖြစ်ကြရသည်။ ယောက္ခမလောင်းကြီးက ၎င်းတို့အား မထီလေးစားဆက်ဆံသဖြင့် အရှက်ရ၍ လာခဲ့သည်။ မိမိတို့ မိသားစုအပေါ်တွင် အထင်သေးသည့်ဟန်ရှိခြင်းကို နာတာရှာ သတိထားခဲ့မိသည်။

တစ်နေ့၌ နာတာရှာတို့မိသားစုသည် ပြဇာတ်များ ကြည့်စဉ် ဟယ်လင်မင်းသမီး၊ ၎င်း၏မောင် အနာတိုလီ စသူတို့နှင့် အသိအကျွမ်း ဖြစ်လာခဲ့သည်။ အနာတိုလီသည် လူရှုပ်လူပွေတစ်ဦးပီပီ နာတာရှာကို ပိုးပန်း၍ ခိုးပြေး နိုင်ရန် ဟယ်လင်ကို ပူဆာသည်။ ဟယ်လင်ကလည်း နာတာရှာကို ညှော့ခံပွဲများသို့ ဖိတ်၍

ဆွယ်သည်။ ၎င်း၏ မောင် အနာတိုလီနှင့် နှစ်ယောက်တည်း လွှတ်ပေးသည်။ နာတာရှာသည် မင်းသားကလေး အင်ဒရေ ပြန်ရောက် မလာခြင်း၊ မင်းသားကလေး အင်ဒရေ မိသားစုက မိမိအပေါ် အထင်သေးခြင်းတို့ကြောင့် စိတ်ရှုပ်လျက်ရှိစဉ် အနာ တိုလီကို လက်ခံလိုက်မိသည်။ အနာတိုလီနှင့် ခိုးရာလိုက်ရန် သဘောတူလိုက်သည်။ ထိုအကြောင်းကို ဆွန်ယာ သိသွားသည်။ ဆွန်ယာသည် မိမိချစ်သူ နီကိုလေ၏နှမ၊ မိမိသူငယ်ချင်း၊ မိမိ၏ကျေးဇူးရှင်များဖြစ်သည့် မြို့စား ကြီး ရော့စ တော့ဗ်တို့၏သမီး နာတာရှာ ဤအဖြစ်ရောက်မည်ကို မကြည့်ရက်။ မကြည့်နိုင်။ ထို့ကြောင့် လူကြီးများ ထံ အကျိုးအကြောင်း ပြောကြားကာ နာတာရှာကို အချိန်မီ အုပ်မိလိုက်နိုင်သည်။ နာတာရှာက ဆွန်ယာကို စိတ် ဆိုးသည်။ သူတို့၏အချစ်ရေးကို နှောင့်ယှက်သူဟု ရန်ငြိုးဖွဲ့ သည်။

ထိုအတောအတွင်း လူကြီးများက နာတာရှာတို့ကိစ္စကို အင်ဒရေ မသိအောင် ဖုံးဖိထားရန် ပီယာကို အကူ အညီတောင်းသည်။ မင်းသားကလေး အင်ဒရေ ပြန်ရောက်သည်နှင့် ပီယာသည် မင်းသားကလေး အင်ဒရေထံသွား၍ အကဲခတ်သည်။ မင်းသားကလေး အင်ဒရေက အကျိုးအကြောင်းသိပြီးဖြစ်ကာ နာတာရှာ၏စာများ၊ ဓာတ်ပုံများကို ပီယာမှတစ်ဆင့် ပြန်ပေးလိုက်သည်။ နာတာရှာ့ဘာသာ လွတ်လပ်စွာ ဆုံးဖြတ်နိုင်ကြောင်း၊ မိမိတို့ကိစ္စမှာ ဤတွင် နိဋ္ဌိတံပြီဖြစ်ကြောင်း ပြောလိုက်သည်။ ပီယာသည် စာနှင့်ဓာတ်ပုံကိုယူကာ နာတာရှာထံသို့ ပြန်လာခဲ့သည်။

နာတာရှာမှာ မိမိ၏အဖြစ်ကို နောင်တရလျက်ရှိသည်။ ယူကျုံးမရဖြစ်လျက်ရှိသည်။ မိမိသည် လောကတွင် ကြီးလေးသည့် ပြစ်မှုကြီးတစ်ခုကို ကျူးလွန်ခဲ့ပြီဟု မလုံမလဲ ဖြစ်လျက်ရှိသည်။ ပီယာက နာတာရှာကို ဖျောင်းဖျ သည်။ မိမိသာ လွတ်လပ်သူဖြစ်ခဲ့လျှင် ကမ္ဘာပေါ်တွင် ယောကျ်ားအပီသဆုံး အတော်ဆုံးလူတစ်

ယောက် ဖြစ်ခဲ့လျှင် နာတာရှာ၏အချစ်ကို တောင်းခံချင်စမ်းပါသည်ဟု နာတာရှာကို ဖွင့်ပြောလိုက်သည်။

ပီယာက နာတာရှာ၏ အချစ်ကို တောင်းခံသည့်လမှာ ၁၈၁၂-ခု ကြယ်တံခွန်ကြီး ပေါ်ထွန်းသည့်လ ဖြစ်သည်။

# အပိုင်း ၉

# အခန်း ၁

၁၈၁၁-ခုနှစ် ကုန်ခါနီးလောက်မှစ၍ အနောက် ဥရောပ နိုင်ငံအသီးသီး တို့သည် လက်နက်ပြင်ဆင်ခြင်း၊ စစ်သည် " အင်အား စုဆောင်းခြင်း စသည့်အမှု များကို အပြင်းအထန် လုပ်ဆောင်လာခဲ့ကြလေသည်။ ၁၈၁၂-ခုနှစ်၌ကား ထောက်ပံ့ရေးတပ်များ၊ ပို့ဆောင်ရေးတပ်များ အပါအဝင် သန်းပေါင်းများစွာသော စစ်သည်များသည် အနောက်ဘက် မှ အရှေ့ဘက် ရုရှားတပ်များ တပ်စွဲထားရာ ရုရှားနယ်စပ် သို့ စစ်ကြီးဆင်လျက် အလုံးအရင်းနှင့် ချီတက်လာခဲ့ကြ သည်။ ၁၈၁၂ ခုနှစ် ဇွန်လ ၁၂ ရက်နေ့၌ကား အနောက် ဥရောပလက်နက်ကိုင်တပ် များသည် ရုရှားနယ်စပ်ကို ဖြတ်ကျော်လာခဲ့ကြလေသည်။ ဤသို့ဖြင့် ရုရှားနှင့် ပြင် သစ်တို့၏ စစ်ပွဲကြီး ဖြစ်ပွားလာခဲ့ရလေသည်။ ဤသို့ ဖြင့် လူ၏ဆင်ခြင်တုံတရား နှင့် လည်းကောင်း၊ လူ၏ဘဝ နှင့်လည်းကောင်း ဆန့်ကျင်သည့် အဖြစ်အပျက်ကြီး တစ်ရပ် သည် ပေါ်ပေါက်လာခဲ့လေသည်။ သန်းပေါင်းများစွာသော လူများသည် လိမ်လည်ခြင်း၊ သစ္စာဖောက်ခြင်း၊ ခိုးဝှက်ခြင်း၊ အယောင်ဆောင်ခြင်း၊ ငွေစက္ကူတု လုပ်ခြင်း၊ ဖောက်ထွင်း ခြင်း၊ လူနေအိမ်ခြေများကို မီးတိုက်ခြင်း၊ လုယက်ခြင်း၊ လူသတ်ခြင်း စသည့် ရေတွက်ခြင်းငှာ မစွမ်းနိုင်သော ရာဇဝတ်မှုကြီးများကို အပြန်အလှန် ကျူးလွန်ခဲ့ကြလေ သည်။ သို့သော်လည်း ဤမျှ ကြောက်ခမန်း လိလိရှိသော ရာဇဝတ်မှုကြီးများကို ကမ္ဘာပေါ်ရှိ မည်သည့် တရားရုံးတော် အမှုတွဲ များတွင်မျှ မှတ်တမ်းတင်ထားခြင်း မရှိခဲ့ချေ။ ထိုအမှုကြီးများကို ကျူးလွန်ခဲ့သူများ

ကိုယ်နှိုက်ကလည်း မိမိတို့ ပြုလုပ်လျက်ရှိသော အမှုကြီးများသည် ရာဇဝတ်မှု ကြီးများ ဖြစ်ကြောင်းကို ထိုစဉ်က နားလည်သဘောပေါက် ခြင်း မရှိခဲ့ကြချေ။ " အံ့ဖွယ်သရဲထူးကဲသော ဤဖြစ်ရပ်ကြီးသည် မည် သည့် အကြောင်းကြောင့် ပေါ်ပေါက်ခဲ့ရသနည်း။ ထို ဖြစ်ရပ်ကြီး၏ အကြောင်းတရားများကား အဘယ်နည်း။ နပိုလီယန်က အိုဒင်ဘတ်နယ်စားကြီး၏ ပြည်နယ်ကို အဓမ္မသိမ်းယူခြင်း၊ နပိုလီယန်၏ ကုန်သွယ်မှုပိတ်ဆို့ရေး ဝါဒကို ဥရောပနိုင်ငံများက လိုက်နာကျင့်သုံးမှု မပြုကြခြင်း၊ နပိုလီယန်၌ ကြီးမြင့်ထင်ပေါ်လိုသောဆန္ဒ လွန်ကဲခြင်း၊ ရုရှားဘုရင် အလက်ဇန်းဒရား၏ ခေါင်းမာခြင်း၊ သံတမန် တို့ တတ်ပွန် လိမ္မာမှုကင်းမဲ့ခြင်း စသည်တို့သည် ထိုစစ်ပွဲ ကြီး၏ အကြောင်းတရားများပင် ဖြစ်သည်ဟု ရာဇဝင် ဆရာများက လူတတ်ကြီးတွေ လုပ်၍ ပြောခဲ့ကြသည်။

ငင်းတို့ပြောသည့်အတိုင်း မှန်လျှင် ထိုစစ်ပွဲကြီးကို ရှောင်ကွင်းရန်မှာ အလွယ်ကလေး ဖြစ်ပါသည်။ ဩစတြီး ယား နိုင်ငံခြားရေးဝန် မက်တားနစ်၊ ရုရှား နိုင်ငံခြားရေး ဝန် ရွှန်ယန်းဆက်၊ ပရပ်ရှား နိုင်ငံခြားရေးဝန် တယ်လေရန် စသည့် ပုဂ္ဂိုလ်ကြီးများအနက် တစ်ဦးဦးက နပိုလီယန်ထံ ပို့မည့်စာချွန်များကို ညီလာခံသဘင်တစ်ခုနှင့် ညနေခင်း မင်းပွဲသဘင်တစ်ခုအကြား အားလပ်ချိန်ကလေး၌ အထိုက် အလျောက် အပင်ပန်းခံကာ ပြေပြစ်ချောင်စွာ ရေးသားလိုက် ရုံမျှဖြင့်ပင် ကိစ္စပြီးနိုင်လောက်ပါသည်။ သို့တည်းမဟုတ် နပိုလီယန်အနေဖြင့် “ချစ်ကြည် လေးမြတ်၍ ကျွန်ုပ် အကြောင်းကြားအပ်သော ညီတော်။ အိုဒင်ဘတ်ပြည်နယ် ကြီးကို အိုဒင်ဘတ်နယ်စားကြီးအား ပြန်၍ပေးရန် ကျွန်ုပ် သဘောတူပါသည်”ဟူသော နှစ်ကြောင်းမျှလောက်သာ ပါသည့် စာချွန်တစ်စောင်ကို ရုရှားဘုရင်ထံ ပေးပို့လိုက် ရုံမျှဖြင့်လည်း ထိုစစ်ပွဲကြီးကို ရှောင်ကွင်းနိုင်မည် ဖြစ်ပါသည်။

ထိုခေတ်က ပုဂ္ဂိုလ်များအဖို့ ဖော်ပြပါအကြောင်း များသည် စစ်ဖြစ်ခြင်း၏ အကြောင်းတရားများဟု ယူဆ လျက်ရှိပါသည်။ ဤသို့ ယူဆခြင်းကိုလည်း ကျွန်ုပ်တို့ နားလည်နိုင်ပါသည်။ နပိုလီယန်၏အမြင်၌ အင်္ဂလိပ်၏ ခြေပုန်းခုတ်မှုများသည် စစ်ဖြစ်ရခြင်း၏ အကြောင်းတရား ဖြဒ်သည်ဟု ယူဆမည်မှာ ဓမ္မတာသာ ဖြစ်ပါသည်။ (နပိုလီယန်သည် စိန့်ဟယ်လီနာကျွန်း၌ ထိုအတိုင်း ပြော ခဲ့သည်။) အင်္ဂလိပ် လွှတ်တော်အမတ်များ၏အဖို့၌ နပို လီယန်၏ကြီးမြင့်လိုသော ဆန္ဒလွန်ကဲခြင်းကြောင့် စစ်ဖြစ် ရသည်ဟု ယူဆကြမည်မှာ ဓမ္မတာသာ ဖြစ်ပါသည်။ အိုဒင်ဘတ် နယ်စားကြီးအဖို့၌ မိမိအား နိုင့်ထက်ကလူ ပြုသောကြောင့် စစ်ဖြစ်ရခြင်းဖြစ်သည်ဟု ယူဆမည်သာ ဖြစ်ပါသည်။ ကုန်သည်များအမြင်၌ ဥရောပ၏စီးပွားရေး ကို ချွတ်ခြုံကျစေသော နပိုလီယန်၏ကုန်သွယ်မှု ပိတ်ဆို့ ရေးဝါဒကြောင့် စစ်ဖြစ်ရသည်ဟု ယူဆကြမည်သာ ဖြစ် ပါသည်။ စစ်သားဟောင်းကြီးများနှင့် စစ်ဗိုလ်ချုပ်ကြီးများ အမြင်၌ မိမိတို့အား အလုပ်အကိုင် ရှာဖွေပေးဖို့ လိုအပ် လာခြင်းကြောင့် စစ်ဖြစ်ရသည်ဟု ယူဆကြမည်သာ ဖြစ်ပါသည်။ ထိုခေတ်က တရားဥပဒေသမားများအမြင်၌ တရားဥပဒေ စိုးမိုးရေးကို ပြန်လည်ထူထောင်ရန် လိုအပ် လာခြင်းကြောင့် စစ်ဖြစ်ရသည်ဟု ယူဆကြမည်သာ ဖြစ်ပါသည်။ ထိုခေတ် သံတမန်များ၏ အမြင်၌ ၁၈ဝ၉ခုနှစ်က ရုရှားနှင့် ပရပ်ရှားတို့ ချုပ်ဆိုခဲ့သော မဟာမိတ် စာချုပ်ကို နပိုလီယန်ထံ မပေါက်ကြားအောင် လျှို့ဝှက် မထားနိုင်ခြင်း၊ ရုရှားဧကရာဇ်၏ စာချွန်တော်အမှတ် ၁၈၇ ၌ မချေမငံ သုံးနှုန်းထားခြင်းတို့ကြောင့် ထိုစစ်ပွဲကြီး ပေါ်ပေါက်ခဲ့ရသည်ဟု ယူဆကြမည်သာ ဖြစ်ပါသည်။ ဤသို့ဖြင့် ထိုခေတ်က လူများတွင် အတွေးအခေါ် အယူ အဆ အကြည့်အမြင်များ ကွဲပြားခြားနား များပြားလာသည် နှင့်အမျှ စစ်ဖြစ်ရခြင်း၏ အကြောင်းတရား များစွာတို့ကို ထပ်မံတွေ့ရှိလာကြမည်မှာ ဓမ္မတာသာ ဖြစ်လေသည်။

သို့ရာတွင် ထိုစစ်ပွဲကြီး၏ ထုထည်ပမာဏတစ်ခု လုံးကို ခြုံငုံကြည့်၍ ထို စစ်ပွဲကြီး၏ နဂိုပကတိလည်းဖြစ် ကြောက်ဖွယ်လည်းရှိသော အနက်အဓိပ္ပာယ်ကို ပြက်ပြက် ထင်ထင် သိမြင်ကြရသော ကျွန်ုပ်တို့ နောင်လာနောက်သား များ အဖို့၌ကား ဖော်ပြပါ အကြောင်းတရားများသည် လုံလောက်သော အကြောင်းတရားများ မဟုတ်သေးချေ။ နပိုလီယန်ဆိုသော လူတစ်ယောက်၌ ကြီးမြင့်ထင်ပေါ် လိုသော ဆန္ဒရှိရုံ၊ သို့မဟုတ် အလက်ဇန်းဒရားဆိုသော လူတစ် ယောက်က ခေါင်းမာရုံ၊ သို့မဟုတ် အင်္ဂလန်ဆိုသော တိုင်းပြည်တစ်ပြည်က ကောက်ကျစ်စဉ်းလဲရုံ၊ ထိုသို့မှ မဟုတ်သေးလျှင် နပိုလီယန်ဆိုသော လူတစ် ယောက်က အိုဒင်ဘတ်နယ်စားကြီးဆိုသော လူတစ်ယောက်ကို နိုင် ထက်ကလူပြု ရုံမျှဖြင့် သန်းပေါင်းများစွာသော ခရစ်ယာန် လူမျိုးအချင်းချင်း တစ်ဦးကိုတစ်ဦး ညှဉ်းဆဲသတ်ဖြတ်သည့် ( အဖြစ်သို့ ရောက်ရသည်ဆိုခြင်းမှာ အဓိပ္ပာယ်မရှိချေ။

ဤအဖြစ်ကို ကျွန်ုပ်တို့ နားမလည်နိုင်ချေ။ ထိုသို့သော အဖြစ်အပျက်များ၊ အခြင်းအရာများ၊ အခြေအနေများသည် နှိပ်စက်ခြင်း၊ ညှဉ်းပန်းခြင်း၊ လူသတ်ခြင်း စသည့် ကာယကံအမှုများနှင့် မည်သို့ ဆက်စပ်နေသည်ကိုလည်း ကျွန်ုပ်တို့ နားမ လည်နိုင်ချေ။ အိုဒင်ဘတ်နယ်စားဟူသော လူတစ်ယောက် အစော်ကားခံရရုံဖြင့် ဥရောပတိုက်ရှိ သန်းပေါင်းများစွာသော လူများသည် မော်စကိုနှင့် စမိုးလင့် ရှိ လူ များကို ဖျက်ဆီးသတ်ဖြတ်ခြင်း ပြုသည့်အဖြစ်သို့ ရောက်ရသလော။ မော်စကိုနှင့် စမိုးလင့်ရှိ လူများကလည်း ပြန်၍ ဖျက်ဆီးသတ်ဖြတ်ခြင်း ပြုရသလော။ နပိုလီ ယန် ဆိုသော လူတစ်ယောက်က အိုဒင်ဘတ် နယ်စားဆိုသော လူတစ်ယောက်ကို စော်ကားသည် ဟူသော အကြောင်းပြ တစ်ချက်မျှဖြင့် သန်းပေါင်းများစွာသော လူအချင်းချင်း တစ်ဦးကိုတစ်ဦး သတ်ဖြတ်ခြင်း ပြုကြရတော့မည်လော။ ဤ အဖြစ်သည် ယုတ္တိရှိသလော။

ငင်းတို့၏ သားစဉ်မြေးဆက်များ ဖြစ်ကြသော ကျွန်ုပ်တို့ကား သုတေသန လုပ်ငန်းများထဲတွင် အတော မသတ် နစ်မျောနေသူ ရာဇဝင်ဆရာများ မဟုတ်ကြ ချေ။ ထို့ကြောင့် ကျွန်ုပ်တို့သည် ထိုအဖြစ်အပျက်ကြီးကို တိမ် ( သလ္လာကင်း သော အသိဉာဏ်တရားဖြင့် ဆင်ခြင်သုံးသပ် နိုင်ကြလေသည်။ ဤသို့ ကြည့်မြင် သုံးသပ်လိုက်သောအခါ ၌ ရေတွက်ခြင်းငှာ မစွမ်းနိုင်သော အခြားတစ်ပါးသော အကြောင်းတရားများကိုလည်း ကျွန်ုပ်တို့ တွေ့ရှိလာရပေ သည်။ ကျွန်ုပ်တို့သည် စစ်ဖြစ်ရခြင်း၏ အကြောင်းတရား များကို ပိုမိုနက်ရှိုင်းစွာ စေ့ငုလာသည်နှင့်အမျှ ပို၍များပြား သော နောက်ထပ် အကြောင်းတရားသစ်များကို တွေ့ရှိလာ ရလေ သည်။ ကျွန်ုပ်တို့ ထပ်မံတွေ့ရှိလာသော ထိုတစ်ခုစီ တစ်ခုစီသော အကြောင်းတရားများသည် လည်းကောင်း၊ စုပေါင်းထားသော အကြောင်းတရား စဉ်ကြီး တစ်ခုလုံး သည် လည်းကောင်း စစ်ဖြစ်နိုင်လောက်အောင် ခိုင်လုံကြ ပါပေ သည်ဟု ပြောနိုင်သကဲ့သို့၊ တစ်ဖက်က ကြည့်ပြန် လျှင်လည်း ထို အကြောင်းတရားများသည် (တိုက်ဆိုင် ဖြစ်ပေါ်လာသော အခြားတစ်ပါးသော အကြောင်းတရား များ မရှိခဲ့လျှင်) သိမ်ဖျင်းလျက်ရှိခြင်း၊ စစ်ပွဲကြီး၏ ထုထည် ပမာဏနှင့် နှိုင်းယှဉ်လျှင် သေးနုပ်လျက်ရှိခြင်းကို တွေ့ရပြန်သည့်အတွက် ခိုင်လုံ သည်ဟု မဆိုနိုင်ပြန်သေး ချေ။ ကျွန်ုပ်တို့အဖို့ကား နပိုလီယန်က ၎င်း၏တပ်များ ကို ဗစ်စတူလာ မြစ်တစ်ဖက်ကမ်းသို့ ဆုတ်ခွာပေးရန် ငြင်းဆန်ခြင်း၊ အိုဒင်ဘတ် ပြည်နယ်ကြီးကို ပြန်ပေးရန် ငြင်းဆိုခြင်း စသည့် အဖြစ်အပျက်များကို စစ်ဖြစ်စေ နိုင် သော အကြောင်းတရားဟု ယူဆနိုင်လျှင်၊ ဤမည် ထို မည်သော ပြင်သစ်တပ် ကြပ်ကလေး တစ်ယောက်က စစ် ထဲတွင် ဒုတိယပတ် ဆက်လက်၍ အမှုထမ်းရန် ဆန္ဒရှိခြင်း သည်လည်း (သေးငယ်သည်မှန်စေ) စစ်ဖြစ်ခြင်း၏ အကြောင်းတရား တစ်ပါးဟု ယူဆနိုင်မည်သာ ဖြစ်လေ သည်။ အကြောင်းမူကား ပြင်သစ် တပ်ကြပ် ကလေးတစ်ဦး က ဆက်လက်အမှုထမ်းရန် ဆန္ဒမရှိခဲ့ပါက၊ ၎င်းနည်းတူ အခြား အခြားသော အကြပ်တပ်သားများကလည်း ဆက် လက် စစ်မှုထမ်းရန် ဆန္ဒမရှိခဲ့ပါ

က နပိုလီယန်၏ စစ် တပ်ကြီးထဲ၌ တပ်ဗိုလ်တပ်သားဟူ၍ ရှိတော့မည် မဟုတ် သောကြောင့်တည်း။ ထိုအခါ၌ စစ်ပွဲဟူ၍လည်း ဖြစ်ပွား ‘ နိုင်တော့မည် မဟုတ် သောကြောင့်တည်း။

အကယ်၍သာ ဗစ်စကြူလာ မြစ်တစ်ဖက်ကမ်းသို့ ဆုတ်ခွာပေးရန်ဟူသော ရုရှားဘုရင်၏ တောင်းဆိုချက် ကို မိမိအား မချေမင် စော်ကားရိုင်းပျခြင်း ဖြစ်သည် ဟု နပိုလီယန်က ယူဆခြင်း မပြုခဲ့လျှင်၊ ၎င်း၏စစ်တပ်များ ကို ချီတက်တိုက်ခိုက် ရန် အမိန့်ပေးခြင်း မပြုခဲ့လျှင် ထို စစ်ပွဲကြီးသည် ပေါ်ပေါက်လာခဲ့မည် မဟုတ် ချေ။ တစ်ဖန် နပိုလီယန် စစ်တပ်ကြီးထဲရှိ အကြပ်တပ်သားများက ဒုတိယအပတ် ဆက်လက် အမှုထမ်းရန် ငြင်းဆန်ခဲ့ကြ လျှင်လည်း ထိုစစ်ပွဲကြီးသည် ပေါ်ပေါက် လာနိုင်မည် မဟုတ်ချေ။ တစ်ဖန် အင်္ဂလိပ်တို့၏ ခြေပုန်းခုတ်မှုများ ဟူ၍ မရှိခဲ့ လျှင်၊ သို့မဟုတ် အိုဒင်ဘတ် နယ်စားကြီး ဟူ၍ မရှိခဲ့လျှင်၊ သို့မဟုတ် အလက်ဇန်း ဒရား ဘုရင်က နပိုလီယန်သည် မိမိအား စော်ကားရိုင်းပျပြီဟု ယူဆခြင်း မပြုခဲ့ လျှင်၊ သို့မဟုတ် ရုရှားနိုင်ငံတွင် သက်ဦးဆံပိုင် ကေရာဇ်စနစ် မရှိခဲ့လျှင်၊ သို့မဟုတ် ပြင်သစ်ပြည်တွင် ပြင်သစ်တော်လှန်ရေးဟူ၍ မပေါ်ပေါက်ခဲ့လျှင်၊ သို့မဟုတ် တော်လှန်ရေးကြီး၏ ရလဒ်ဖြစ်သော နပိုလီယန်၏ အာဏာရှင်စနစ်နှင့် ပြင်သစ်လက်နက် နိုင်ငံတော်ကြီးဟူ၍ မပေါ်ပေါက်ခဲ့လျှင်၊ သို့မဟုတ် ပြင် သစ်တော်လှန်ရေးကြီး ကို ဖြစ်ပေါ်စေခဲ့သော အကြောင်းတရားများ မရှိခဲ့လျှင် ထို စစ်ပွဲကြီးသည်လည်း ပေါ်ပေါက်လာနိုင်မည် မဟုတ် ချေ။ ထိုတစ်ခုစီ တစ်ခုစီ သော အကြောင်းတရားများ မရှိခဲ့ပါက မည်သည့်အရာမျှ ပေါ်ပေါက်လာနိုင်မည် မဟုတ်ချေ။ ဤသို့ဖြင့် ထိုစစ်ပွဲကြီး ပေါ်ပေါက်လာစေရန် အတွက် များလှစွာ သော၊ အနမတဂ္ဂသော အကြောင်း တရားများသည် ကြုံကြုံဖန်ဖန် ဆုံစည်း ပေါ်ပေါက်လာခဲ့ ကြရလေသည်။ သို့ဖြစ်ရကား ထိုအဖြစ်အပျက်ကြီးသည် တစ်ခု တည်းသော တစ်စုံတစ်ရာသော မည်သည့်အကြောင်း တရားကြောင့်မျှ ပေါ်ပေါက်

လာခြင်း မဟုတ်ဘဲ၊ မဖြစ်ပွား ဘဲ နေ၍မရသောကြောင့် ဖြစ်ပွားလာရခြင်းသာ ဖြစ်လေ သည်။ ရာစုနှစ်အနည်းငယ်ခန့်က လူအချင်းချင်း သတ် ဖြတ်ကြရန် အရှေ့ဘက်မှ လူများသည် အနောက်ဘက်သို့ ရောက်ရှိလာခဲ့ကြသည့်နည်းတူ ယခုလည်း လူအချင်းချင်း လူစိတ်ကင်းမဲ့စွာ သတ်ဖြတ်ကြရန်အတွက် အနောက် ဘက် မှ လူများသည် အရှေ့ဘက်သို့ မရှောင်မလွှဲသာ ရောက်လာ ခဲ့ရခြင်းသာ ဖြစ်လေသည်။

ရုတ်တရက်ကြည့်သော် ထိုအဖြစ်အပျက်ကြီးသည် နပိုလီယန်နှင့် အလက်ဇ န်းဒရားတို့၏ နှုတ်ထွက်စကား များကြောင့် ပေါ်ပေါက်လာသည်ဟု ထင်မှတ်ရ၏။ ၎င်း တို့၏ လုပ်ဆောင်ချက်များကြောင့် ပေါ်ပေါက်လာသည် ဟု ထင်ရ၏။ သို့ရာတွင် စင်စစ်၌ကား ၎င်းတို့၏ လုပ် ဆောင်ချက်များသည်လည်း ၎င်း တို့၏စိတ်ဆန္ဒများကြောင့် လွတ်လပ်စွာ ပေါ်ထွက်လာခြင်း မဟုတ်ကြချေ။ ဘုရင်၏ အမိန့်အရ ဆင့်ခေါ်ရာသို့ လိုက်ပါလာရသော စစ်သား တစ်ယောက်၊ သို့မဟုတ် မဲကျသဖြင့် စစ်တပ်ထဲသို့ လိုက်ပါလာရသော စစ်သားတစ်ယောက် သည် ၎င်း၏စိတ်  အလိုဆန္ဒအတိုင်း ပြုလုပ်နိုင်ခြင်း မရှိသကဲ့သို့ နပိုလီယန် နှင့် အလက်ဇန်းဒရားတို့သည်လည်း ၎င်းတို့၏ စိတ်ဆန္ဒ အလျောက် ပြုလုပ်နိုင်ခြင်း မ ရှိကြချေ။ နပိုလီယန်နှင့် အလက်ဇန်းဒရားတို့သည် မည်မျှပင် စစ်ထိုးလိုသော ဆန္ဒ ရှိကြစေ (အပေါ်ယံကြည့်လျှင်မူ စစ်ထိုးခြင်း၊ မထိုး ခြင်းသည် ၎င်းတို့နှစ်ဦး၏ ဆန္ဒ အပေါ်တွင် တည်နေသည် ဟု ထင်ရပါသည်။) ၎င်းတို့၏ဆန္ဒကို အကောင်အထည် ဖော်ရန်အတွက် ရေတွက်ခြင်းငှာ မစွမ်းနိုင်သော အခြေ အနေများ၊ အကြောင်းတရားများ ဆုံစည်းဖြစ်ပေါ်လာဖို့ လိုပေသေးသည်။ ထိုအခြေအနေ များ၊ ထိုအကြောင်းအရာ များ မရှိဘဲ စစ်ထိုး၍ မဖြစ်နိုင်ချေ။ ထိုအဖြစ်အပျက်ကြီး (ဝါ) ထိုစစ်ပွဲကြီးကို ဖြစ်စေနိုင်သော တန်ခိုးအာဏာသည် နပိုလီယန်၌လည်း မ တည်၊ အလက်ဇန်းဒရား၌လည်း မတည်ချေ။ ထိုတန်ခိုးအာဏာသည် သေနတ်ပစ်

သော တပ်သား၊ ရိက္ခာနှင့် လက်နက်တို့ကို သယ်ဆောင်သော တပ်သားတို့၌သာ တည်ပေသည်။ စင်စစ်၌ နပိုလီယန် နှင့် အလက်ဇန်းဒရား စသော အကြီးအကဲ ဦးစီးဦးကိုင် ခေါင်းဆောင် ပုဂ္ဂိုလ်ဆိုသူများသည် တန်ခိုးမရှိသူ၊ အာဏာ မရှိသူ၊ စွမ်းအားမရှိသူ၊ စိတ်တန်ခိုးသတ္တိအရာတွင် ခုံနဲ့ အားနည်းသူများသာ ဖြစ်ကြလေသည်။ သို့ဖြစ်ရကား ဤမျှ စိတ်တန်ခိုးသတ္တိ နံနဲ့ အားနည်းသူတို့၏ အလိုဆန္ဒ ကို အကောင်အထည် ဖြစ်စေရန်မှာ တကယ် တန်ခိုး အာဏာရှိသော လူသန်းပေါင်းများစွာတို့က ထိုဆန္ဒကို လိုက်နာဆောင်ရွက်ပေးမည်ဟု နှစ်ခြိုက်သဘောတူဖို့ လိုပေသေးသည်။ ၎င်းတို့အသီးသီး၌ ဤသို့ လက်ခံသဘော တူရန်မှာလည်း ၎င်းတို့အသီးသီး၌ ကွဲပြားခြားနားသော အနမတဂ္ဂအကြောင်းတရားများ ရှိဖို့လိုပေသေးသည်။

ကျွန်ုပ်တို့သည် ကျိုးကြောင်း ညီညွတ်ခြင်း ကင်းမဲ့ သည့် အဖြစ်အပျက်များ (၎င်းတို့၏ ကျိုးကြောင်းညီညွတ်မှု ရှိခြင်းကို ကျွန်ုပ်တို့ နားမလည်သောကြောင့် ဤသို့ လွယ်လွယ်ပြောရခြင်း ဖြစ်ပါသည်။)ကို ဆင်ခြင်သုံးသပ်၍ လိပ်ပတ်မလည်သည့်အဆုံး၌ ဤကား ကံအလျောက် ဖြစ်ခြင်းသာတည်းဟု ကံကို ယိုးမယ်ဖွဲ့ တတ်ကြလေသည်။ ကျွန်ုပ်တို့သည် ရာဇဝင်၌ ဖြစ်ပျက်ခဲ့သော အဖြစ်အပျက် များကို ကျိုးကြောင်းညီညွတ်စွာ ဆင်ခြင်သုံးသပ်ရန် အားထုတ်သည်နှင့်အမျှ ၎င်းတို့သည် ကျွန်ုပ်တို့အမြင်၌ ကျိုးကြောင်းညီညွတ်ခြင်း ကင်းသည့်အရာများ၊ နားလည် နိုင်စွမ်း မရှိသောအရာများ ဖြစ်လာကြသည်ကို တွေ့ရ လေသည်။

လူသည် မိမိအတွက် အသက်ရှင်နေထိုင်ခြင်း ပြု၏။ မိမိ၏ ရည်မှန်းချက်များ အောင်မြင်ရေးအတွက် မိမိလွတ်လပ်ခွင့်ကို အသုံးပြုလျက် အားထုတ်ခြင်းပြု၏။ မိမိသည် အမှုတစ်ခုကို ပြုလိုက ပြုနိုင်သည်။ မပြုလိုက လည်း နေနိုင်သည်။ ထိုအမှုကို ပြုရေး မပြုရေးသည် မိမိဆန္ဒပေါ်တွင် တည်သည်ဟုလည်း စွဲမြဲစွာယုံကြည်လေ့ ရှိ၏။ သို့ရာတွင် လူသည် အမှုတစ်ခုကို ပြုပြီးဖြစ်အံ့။

တစ်စုံတစ်ခုသော အချိန်ကာလ၌ ပြုပြီးဖြစ်သော ထိုအမှု သည် လွန်ခဲ့လေပြီ။ မပြုလုပ်ရသေးဟု ဆို၍မရတော့ပြီ။ ရွေးနုတ်၍ မရတော့ပြီ။ အမှုတစ်ခုသည် ပြုပြီးသည်နှင့် လူသည် ထိုပြုပြီးအမှုတစ်ခုကို စိုးပိုင်နိုင်ခြင်း မရှိတော့ပြီ။ ထိုအမှုသည် အတိတ်၏ပစ္စည်း၊ ရာဇဝင်၏ပစ္စည်းသာ ဖြစ်ခဲ့လေပြီ။ ရာဇဝင်၏ပစ္စည်းဖြစ်သည်နှင့် ထိုအမှုကို လူက စိုးပိုင်နိုင်ခြင်း မရှိတော့ပြီ။ ရာဇဝင်၌ လူက စိုးပိုင်သောအဖြစ်အပျက်၊ လူက စိုးပိုင်သောအမှုဟူ၍ မရှိပြီ။ ၎င်းကို ကမ္မနိယာမတရားက စိုးပိုင်ခဲ့လေပြီ။

လူတစ်ယောက်၏ဘဝ၌ ဘက်နှစ်ဖက် ရှိလေ သည်။ တစ်ဖက်မှာ မိမိ၏တစ်ဦးချင်းဘဝဖြစ်၍ အခြား တစ်ဖက်၌ အများနှင့် ပေါင်းဖော်နေရသော အုပ်စုဘဝ ဖြစ်လေသည်။ တစ်ဦးချင်းဘဝသည် လွတ်လပ်၏။ လွတ်လပ်သည်နှင့် အမျှ အာရုံထွေပြား၏။ အုပ်စုဘဝကား လွတ်လပ်ခြင်း မရှိ။ မိမိအတွက် ချမှတ်ထားသော အုပ်စု စည်းကမ်းများကို လိုက်နာရ၏။

လူသည် မိမိအတွက် အသက်ရှင်နေထိုင်ခြင်း ပြု၏။ တစ်ပြိုင်တည်းမှာပင် လူ့ဇာတိ၊ လူ့အမျိုး၊ လူ့ အနွယ်ကြီးအတွက်လည်း အသက်ရှင်နေထိုင်ခြင်း ပြုရ၏။ လူသည် မိမိအတွက် အသက်ရှင်နေထိုင်ခြင်းကို မိမိဘာသာ သိ၏။ သို့ရာတွင် လူ့ဇာတိ၊ လူ့ အမျိုး၊ လူ့ အနွယ်ကြီး တစ်ခုလုံး၏ ဥဒါန်းတွင်ရစ်သော ကိစ္စများ ဆောင်ရွက်နေရခြင်းကိုမူ မိမိဘာသာ မသိချေ။ လူသည် မိမိ၏ တစ်ဦးချင်းကိစ္စများကို ဆောင်ရွက်ရာ၌ သိစိတ် ရှိသော သတ္တဝါတစ်ဦးဖြစ်သော်လည်း လူ့လောကကြီး ၏ ကိစ္စများကို ဆောင်ရွက်ရာ၌ကား သိစိတ်မရှိသော moi̇s ခွေးသွားစိပ်ကလေးတစ်ခုသာလျှင် ဖြစ်လေသည်။ အကြင် လူတစ်ယောက်သည် အမှုတစ်ခုကို ပြုလုပ်၏။ ပြုပြီးသော အမှုတစ်ခုကို မပြုရသေးဟု ပြန်လည်နုတ်သိမ်း၍ မရချေ။ ထိုလူက ပြုလိုက်သော အမှုကစ်ခုမှ ပေါ်ထွက်လာသော အကျိုးတရားသည် သန်းပေါင်းများစွာသော အခြားလူများ က ပြုလုပ်သည့် အမှု

များနှင့် ကာလအားဖြင့် သွား၍ တိုက်ဆိုင်ကြ၏။ ထိုအခါ၌ ထိုအမှုများအားလုံး သည် ရာဇဝင်အဓိပ္ပာယ်ကို ဆောင်လာလေတော့သည်။ လောက၌ လူတိုင်းသည် အမှုတစ်ခုကို ပြုလုပ်၏။ ဤသို့ ပြုလုပ်သူ များစွာတို့အနက်မှ အကြင်သူတစ်ဦး သည် လူမှုကိစ္စတည်း ဟူသော လှေကားထစ်၌ မြင့်သည်ထက်မြင့်သော နေရာ ကို ရောက်လာပြေးအံ့။ ထိုလူသည် လူများစွာနှင့် တွေ့ကြုံ ဆက်ဆံလာရလေ တော့သည်။ လူများစွာနှင့် ဆက်ဆံလာ ရသည်နှင့်အမျှ ထိုလူသည် လူများစွာတို့ အပေါ်၌ တန်ခိုး အာဏာ လွှမ်းမိုးသည်ထက် လွှမ်းမိုးလာတော့သည်။ တန်ခိုး အာဏာ ကြီးမားလာသည်နှင့်အမျှ ထိုလူ၏ ဆောင် ရွက်ချက်များသည် လွတ်လပ် ခြင်း ကင်းမဲ့လာရလေတော့ 'သည်။ ၎င်း၏လုပ်ဆောင်ချက်သည် မိမိ၏ စိတ်ဆန္ဒ အရ လုပ်ဆောင်ရခြင်းမျိုး မဟုတ်တော့ဘဲ ကံတရား၏ ပြဋ္ဌာန်း ချက်အရ မလွဲမ ရှောင်သာ လုပ်ဆောင်ရခြင်းမျိုး ဖြစ်လာ လေတော့သည်။

ဘုရင်၏ စိတ်နှလုံးသည် အနန္တ တန်ခိုးတော်ရှင် ၏ လက်တွင် ရှိလေသည်။ ရှင်ဘုရင်တစ်ပါးသည် ရာဇဝင်၏ ကျေးကျွန် မျှသာ ဖြစ်လေသည်။

ရာဇဝင်ဟူသည် လူ့ဇာတိ လူ့အမျိုးအနွယ်ကြီး၏ သိစိတ်ကင်းမဲ့သော ယေဘုယျဖြစ်သော အုပ်စုဘဝကို ခေါ်ခြင်းဖြစ်လေသည်။ လူ့အနွယ်ကြီး၏ အုပ်စု ဘဝဟု ဆိုအပ်သော ရာဇဝင်သည် ၎င်း၏ရည်မှန်းချက်များ အောင်မြင်ရေး အတွက် ရှင်ဘုရင်များကို ကိရိယာတန်ဆာ ပလာသဖွယ် အခါခပ်သိမ်း အသုံးပြု ပေသည်။

၁၈၁၂-ခုနှစ် ဖြစ်သောထိုအချိန်က နပိုလီယန်သည် “ငါနှင့် ငါသာနှိုင်း စရာ”ဟု လွန်စွာ မာန်စောင်တက်ခဲ့၏။ ထိုစစ်ပွဲကြီး၏ ကံကြမ္မာသည် မိမိ၏အဆုံးအဖြတ်ပေါ် တွင် တည်သည်ဟု ယူဆခဲ့၏။ အလက်ဇန်းဒရားဘုရင်၏ စကားအရဆိုလျှင် “မိမိပြည်သူများအား သွေးချောင်းစီး စေအံ့လော၊

သို့တည်းမဟုတ် သွေးချောင်းစီးသည့်အဖြစ်မှ ရှောင်ကွင်းအံ့လော'ဟူသော ပြဿနာကြီးကို မိမိတစ်ဦး တည်းသာ ဆုံးဖြတ်နိုင်သည်ဟု နပိုလီယန် အထင်ရောက် ခဲ့၏။ မိမိသည် မိမိ၏ဆန္ဒအလျောက် လွတ်လပ်စွာ ဆောင်ရွက်နေခြင်း ဖြစ်သည်ဟု နပိုလီယန် အထင်ကြီး ခဲ့၏။ သို့ရာတွင် အကယ်စင်စစ်၌ကား နပိုလီယန်သည် ရှောင်လွှဲ၍မရသော နိယာမတရားများ၏ သားကောင်မျှ သာ ဖြစ်ပေသည်။ ရှောင်လွှဲမရခြင်း နိယာမ၏ ချုပ်ကိုင် စိုးမိုးခြင်းကို ခံခဲ့ရရာ၌ နပိုလီယန်သည် မည်သည့်အခါကမျှ ထိုစဉ်ကလောက် တင်းကျပ်စွာ စိုးမိုးချုပ်ကိုင်ခံရခြင်းမျိုးကို မခံခဲ့ရဖူးသေးချေ။ နပိုလီယန်သည် မိမိသဘောဖြင့် ထို စစ်ပွဲကြီးကို တိုက်ခိုက်နေရသည်ဟု ၎င်းဘာသာ၎င်း ထင်လျက်ရှိသော်လည်း တကယ်၌ကား ရှောင်လွှဲမရခြင်း နိယာမတရားများက အုပ်စုဘဝကြီး(ဝါ) လူ့လောက ရာဇဝင်ဖြစ်စဉ်ကြီးအတွက် ပြုဖွယ်ကိစ္စဟူသမျှကို ပြုလုပ် ရန် နပိုလီယန်ကို စေခိုင်းနေခြင်းမျှသာ ဖြစ်လေသည်။

နပိုလီယန်သည် ရာဇဝင်ဖြစ်စဉ်ကြီးကို မောင်းနှင်လျက် ရှိသော ရှောင်လွှဲမရခြင်း နိယာမတရားများ၏ ကျေးကျွန် မျှသာ ဖြစ်လေသည်။

အနောက်ဘက် ကမ္ဘာတစ်ခြမ်းမှ လူများသည် လူအချင်းချင်း သတ်ဖြတ်ရန် ရည်ရွယ်ချက်ဖြင့် အရှေ့ဘက် ကမ္ဘာတစ်ခြမ်းသို့ ရောက်လာခဲ့ကြလေသည်။ ဆုံစည်း တိုက်ဆိုင်တတ်သော လောကတံထွာ ဓမ္မတာသဘောအရ သေးငယ်သော ထောင်ပေါင်းများစွာသော အကြောင်း တရားများသည် ဆုံစည်းဖြစ်ပေါ်လာကြကာ အနောက် ဘက်မှ လူအုပ်ကြီး ပြုဆင်းလာခြင်းနှင့် စစ်တိုက်ခြင်းဟူသော အကျိုးတရားကြီးများကို ဖြစ်ပေါ်စေခဲ့လေသည်။ ကုန်သွယ်မှု ပိတ်ဆို့ရေးစနစ်ကို ဥရောပနိုင်ငံများက လိုက်နာမှု မပြုကြခြင်း၊ နပိုလီယန်က အိုဒင်ဘတ်နယ်စား ကြီးကို နိုင့်ထက်ကလူပြုခြင်း၊ လက်နက်ကိုင် ငြိမ်းချမ်း ရေးကို

ထိန်းသိမ်းရန်ဟူသော အကြောင်းပြချက်ဖြင့် နပိုလီယန်၏ စစ်တပ်များ ပရပ်ရှား ပြည်တွင်းသို့ ဝင်ရောက် လာခြင်း၊ ထိုအချိန်က ပြင်သစ်တိုင်းသူပြည်သားတို့၏ စိတ်သဘောထားနှင့် ပြင်သစ်ကေရာဇ် နပိုလီယန်၏ စစ်ထိုးခြင်း၌ ဝါသနာအထုံ ကြီးပုံကို တစ်ထပ်တည်းကျနေ ခြင်း၊ စစ်ထိုးရန် ကြီးကျယ်ခမ်းနားစွာ ပြင်ဆင်ရ ခြင်းကို နှစ်သက်ခြင်း၊ စစ်စရိတ်များကို ကာမိရန်အတွက် "ရပေါက် ရလမ်း"များ ရှာဖွေရန် လိုအပ်လာခြင်း၊ အချို့သော ဥရောပ ထီးဆောင်းမင်းများက မိမိအား ဒ ရက်စဒင်မြို့ တွင် လာရောက် သစ္စာခံကြသည်၌ နပိုလီယန်သည် လွန်စွာ ဘဝင် မြှော့လျက်ရှိခြင်း၊ ထိုခေတ်က ပုဂ္ဂိုလ်များ၏ အမြင်၌ ငြိမ်းချမ်းရေး ရရှိစေမည့် နည်းလမ်းဟု ထင်ခဲ့ ကြသော်လည်း နောက်ဆုံး၌ နှစ်ဖက်စလုံး၏ "အတ္တစွဲ" ကို သာ မီးမွှေးပေးခြင်းဖြင့် အဆုံးသတ်ခဲ့သော သံတမန် ဆိုင်ရာ စေ့စပ်မှုများ ပျက်ပြားသွားခြင်း စသည့် အကြောင်း တရားများနှင့်တကွ ကုဋေကုဋာများစွာ သော အကြောင်း တရားများသည် အနောက်မှ အရှေ့သို့ လူအုပ်ကြီး ပြို ဆင်းလာ ခြင်းအဖြစ်နှင့် လာ၍ တိုက်ဆိုင်ဆုံစည်းဖြစ်ပေါ် လာကြကာ သို့မဟုတ် ထို အဖြစ်အပျက်ကြီးနှင့် လိုက် လျောညီထွေ ဖြစ်လာကြကာ စစ်ပွဲတည်းဟူသော အကျိုး တရားကြီးကို ဖြစ်ပေါ်စေခဲ့ခြင်းသာ ဖြစ်လေသည်။

သစ်သော့သီးတစ်လုံးသည် မှည့်၍ ကြွေကျရာ၏။ ထိုသစ်သော့သီးသည် မည်သည့် အကြောင်းကြောင့် ကြွေကျရသနည်း။ မြေကြီး၏ ဆွဲငင်ခြင်းကြောင့် လော။ သစ်သော့သီး၏ အညှာခြောက်သွေ့လာခြင်းကြောင့်လော။ နေ၏အပူရှိန် ကြောင့် ညှိုးခြောက်သွားခြင်းကြောင့်လော။ သစ်သော့သီး၏ အလေးချိန်များလာ ခြင်းကြောင့်လော။ လေတိုက်ခြင်းကြောင့်လော။ သို့တည်းမဟုတ် အပင် အောက် တွင် ရပ်နေသော ကလေးငယ်၌ စားလိုသောဆန္ဒ ဖြစ်ပေါ်ခြင်းကြောင့်လော။

မည်သည့်အကြောင်းကြောင့်မျှ မဟုတ်ချေ။ ၎င်း တို့ အားလုံးသည် အကြောင်းတရားများ မဟုတ်ကြချေ။ ၎င်းတို့အားလုံးသည် အခြေအနေများ၏

ဆုံစည်းတိုက်ဆိုင် မှုသာ ဖြစ်လေသည်။ အခြေခံဖြစ်၍ မူလကျသော အဖြစ် အပျက် ဟူသရွေ့သည် အခြေအနေများ၏ ဆုံစည်း တိုက်ဆိုင်မှုကြောင့် ပေါ်ပေါက်လာကြခြင်း ဖြစ်ပေသည်။ သစ်သော့သီး ကြွေကျရခြင်းသည် သစ်သော့သီးကို ဖွဲ့စည်း ဘသော အစေးမျှင်များ ပျက်စီးခြင်းကြောင့် ဖြစ်သည်ဟု ဆိုသော ရုက္ခဗေဒပညာရှင်တစ်ဦး၏ အဆိုအမိန့်သည် မှန်သကဲ့သို့ သစ်သီး ကြွေကျရခြင်းသည် စားလိုသော ဆန္ဒဖြင့် ဆုတောင်းသောကြောင့် ဖြစ်သည် ဟူသော အပင် အောက်မှ ကလေးငယ်၏ စကားသည်လည်း မှန်သည်သာ ဖြစ် လေသည်။ နပိုလီယန် မော်စကိုမြို့သို့ ချီတက်တိုက်ခိုက် ခြင်းသည် ၎င်း၌ ချီတက် တိုက်ခိုက်လိုသော ဆန္ဒရှိခြင်း ကြောင့် ဖြစ်သည်ဟူသော စကားသည် မှန်သကဲ့သို့ နပို လီယန် ပျက်စီးရခြင်းသည် အလက်ဇန်းဒရားဘုရင်၏ ပျက်စီးစေလိုသော ဆန္ဒရှိခြင်းကြောင့် ဖြစ်သည်ဟူသော စကားသည်လည်း မှန်သည်သာ ဖြစ်လေ သည်။ ၎င်းတို့ နှစ်ဦးစလုံး၏ စကားကို မှားသည်ဟုလည်း ပြောနိုင်သည် သာ ဖြစ် လေသည်။ ကလိုင်ဖြစ်လျက်ရှိ၍ တန်သန်းပေါင်း များစွာ အလေးချိန်စီးသော တောင်ကြီးတစ်တောင်သည် နောက်ဆုံးပိတ် မြေတူးသူများ၏ နောက်ဆုံးပိတ် ပေါက်တူး ချက်ကြောင့် ပြိုကျသွားသည်ဟူသော စကားကို မှန်သည် ဟုဆိုလျှင် ရသကဲ့သို့ မှားသည်ဟုဆိုလျှင်လည်း ဆိုနိုင် သည်သာ ဖြစ်လေသည်။ ရာဇဝင် အဖြစ်အပျက်များတွင် ကြီးမြတ်ထင်ရှားသော ပုဂ္ဂိုလ်ဟုဆိုသူများသည် ကုန် ပစ္စည်းတစ်ခုတွင် ကပ်ထားသော တံဆိပ်ကပ်စက္ကူနှင့် တူပေသည်။ ကုန်ပစ္စည်း တစ်ခု၌ ကပ်ထားသော တံဆိပ် ကပ်စက္ကူတစ်ခုသည် ထိုကုန်ပစ္စည်း၏ အမျိုး အမည်ကို ဖော်ပြသော စက္ကူတစ်ခုမျှသာ ဖြစ်သကဲ့သို့ ရာဇဝင်အဖြစ် အပျက် များ၌ ကြီးမြတ်သည့် ပုဂ္ဂိုလ်ဆိုသူများသည်လည်း ထိုရာဇဝင်အဖြစ်အပျက်၏ အမျိုးအမည်ကို ဖော်ပြသော တံဆိပ်ကပ်စက္ကူများသာ ဖြစ်ကြလေသည်။ တံဆိပ် ကပ် စက္ကူသည် ကုန်ပစ္စည်း၏ အမျိုးအမည်ကို ဖော်ပြသော် လည်း ကုန်ပစ္စည်း

နှင့် မည်သို့မျှ ပတ်သက်ခြင်း မရှိသည့် နည်းတူ ထိုကြီးမြတ်သော ပုဂ္ဂိုလ်ဆိုသူများ သည်လည်း ရာဇဝင်အဖြစ်အပျက်များနှင့် မည်သို့မျှ စပ်ဆိုင်ခြင်း မရှိကြချေ။

ကြီးမြတ်သော ပုဂ္ဂိုလ်ဆိုသူများ၏စိတ်၌ ၎င်းတို့ ပြုသော ဆောင်ရွက်ချက် များသည် ၎င်းတို့၏ဆန္ဒအရ ပြုလုပ်သော အမှုများဖြစ်သည်ဟု အထင်ရောက် လျက် ရှိကြ၏။ သို့ရာတွင် ရာဇဝင်သဘောဖြင့် ကြည့်လျှင်ကား ၎င်းတို့ ပြုသော အမှုများသည် ၎င်းတို့ စိတ်ဆန္ဒကြောင့် ပေါ်ပေါက်လာခြင်း မဟုတ်မူ၍ ၎င်းတို့၏ စိတ်ဆန္ဒမပါဘဲ ဖြစ်ပေါ်လာကြခြင်းသာ ဖြစ်ပေသည်။ ရှောင်လွှဲမရသော ကမ္မ နိယာမတရား၏ စီမံပြဋ္ဌာန်းချက်အတိုင်းပင် ဖြစ်ပေါ် လာကြခြင်းသာ ဖြစ်ပေ သည်။ ရာဇဝင်လမ်းကြောင်းကြီး တစ်ခုလုံးနှင့် ဆက်သွယ်ဖြစ်ပေါ်လာခြင်းသာ ဖြစ်ပေသည်။

# အခန်း ၂

မေလ ၂၉-ရက်နေ့၌ နပိုလီယန်သည် ဒရက်စဒင်မြို့မှ ထွက်ခွာလာခဲ့လေ သည်။ ဒရက်စဒင်မြို့တွင် ရက်သတ္တ သုံးပတ်မျှ ကုန်လွန်ခဲ့စေသည့် ကာလ အတွင်း၌ ဥရောပ တိုက်ရှိ ထီးဆောင်းမင်းများ၊ မင်းညီမင်းသားများ၊ နယ်စား များသည် နပိုလီယန်၏ “ရွှေဖဝါးတော်အောက်သို့ ဝင် ရောက် ခစားခဲ့ကြလေ သည်။ ဤသို့ ဝင်ရောက်ခစားကြ သူများထဲ၌ ကေရာဇ်ဘုရင်တစ်ပါးပင် ပါဝင်ပေ သည်။ ဒရက်စဒင်မြို့မှ ထွက်ခွာခြင်းမပြုမီ နပိုလီယန်သည် ပြည့်ရှင် ကေရာဇ်မင်း နှင့်တကွ ဘုရင်များ၊ မင်းညီမင်းသား များ စသည့် မိမိ၏ချီးမြှောက်ခြင်းကို ခံထိုက် သူတို့အား ချီးမြှောက်ခြင်းပြု၍ ဘုရင်များ မင်းညီမင်းသားများစသည့် မိမိ၏ ချီးမြှောက်ခြင်းကို ခံယူခြင်းငှာ မထိုက်သူတို့ကို ပြစ်တင်မောင်းမဲခြင်း ပြု၏။ ထိုမှတစ်ပါး ဩစတြီးယား ပြည့်ရှင်ဘုရင်မကြီးအားလည်း ၎င်း၏ ကိုယ်ပိုင်ဖြစ်

သော စိန်ကျောက်ရတနာများ၊ ပုလဲ ရတနာများကို လက်ဆောင် ပဏ္ဏာအဖြစ် ချီးမြှင့်တော်မူ၏။ (၎င်း၏ ကိုယ်ပိုင်ပစ္စည်း ဟု ဆိုသော်လည်း ဤပစ္စည်းများကို အခြားဘုရင်များထံမှ သိမ်းယူခဲ့ခြင်း ဖြစ်ပါသည်။) ပါရီ၌ မယားတစ်ယောက်ကို စွန့်ပစ်ခဲ့ပြီးသော နပိုလီယန့်အထံ မိမိကိုယ်တိုင် မိမိမောင်းမ ကိုယ်လုပ်တော် အဖြစ် အပ်နှင်းသော ဘုရင်မကြီး မေရီလူဝီ ကိုလည်း (နပိုလီယန်၏ ရာဇဝင် ပညာရှိများအဆိုအရ) ကြင်နာစွာ ပွေ့ဖက်နူတ်ဆက်၍ တိမ်းပီ တိမ်းပါး သနား စ ဖွယ် ရင်ဝယ်ဖိုလှိုက် အလွမ်းမီးလောင်မြိုက်စေပြီးသည့် နောက်၌ ထီးဆောင်းမင်း အပေါင်းတို့၏ သခင်၊ ဘုရင် တကာတို့၏ သနင်း၊ မှန်ကင်းတကာတို့၏ အထွတ် ဟု ဆိုသော နပိုလီယန်သည် စစ်မြေသို့ ကြွချီတော်မူခဲ့လေ သတည်း။

ထိုအချိန်ကား ဥရောပအနိုင်နိုင်ငံ၌ သံတမန် အပေါင်းတို့သည် ငြိမ်းချမ်းရေး မီးရှူးတန်ဆောင်ကို ထွန်းပြောင်စေနိုင်သေးသည်ဟု မမှိတ်မသုန် ယုံကြည်ကြ လျက်၊ ငြိမ်းချမ်းရေးရရန် အစွမ်းကုန် ကြိုးပမ်းအားထုတ် လျက်ရှိသော အချိန်ဖြစ် လေသည်။ ကေရာဇ်ဘုရင် နပိုလီယန် ကိုယ်တော်တိုင်လည်း "အကြည်တော်မင်း မြတ်" ဟု အစချီလျက် မိမိသည် စစ်ထိုးခြင်းကို မလိုလားကြောင်း၊ အကြည်တော် အစဉ်သဖြင့် လေးမြတ်ချစ်ကြည်လျက် ရှိကြောင်း၊ မိမိတို့နှစ်နိုင်ငံသည် မီးမသေ ရေမနောက် ရွှေတစ်ပြားတည်းကဲ့သို့ " ရှိစေလိုသော ဆန္ဒရှိကြောင်း စသည်ဖြင့် ဖော်ပြကာ ရုရှားဘုရင် အလက်ဇန်းဒရားထံသို့ စာချွန်ပို့လိုက်သော ကာလလည်း ဖြစ်လေသည်။ ဤသို့ သံတမန်များက ငြိမ်းချမ်းရေးရရန် ကြိုးပမ်းလျက်၊ နပို လီ ယန်ကိုယ်တိုင် စာချွန်များ ရေးသားပေးပို့လျက် ရှိသော် လည်း နပိုလီယန်သည် ရှေ့ကြောင်းချီတပ်မတော်ကြီး ရှိရာသို့ ထွက်ခွာလာခဲ့လေပြီ။ စခန်းထောက် တိုင်း၌လည်း မိမိ၏စစ်တပ်များကို အနောက်ဘက်မှ အရှေ့ဘက်သို့ အပြင်းချီ တက်ရန် အမိန့်သစ်များ ထုတ်ပြန်လျက်ရှိလေ ပြီ။ နပိုလီယန်သည် လူပျိုတော် သားများ၊ ကိုယ်ရံတော် တပ်များ၊ အစောင့်တပ်များခြံရံလျက် မြင်းခြောက်ကောင်

က ရထားကြီးကို စီးနင်းကာ ပိုဆင်၊ ဘွန်း၊ ဒန်းဇစ်၊ ကိုနစ် စသာတ်မြို့များကို ဖြတ်၍လာခဲ့သည်တွင် ထိုမြို့များသို့ ရောက်သည့်အခါတိုင်း မြို့သူမြို့သားများက လည်း နပိုလီ ယန်ကို သောင်းသောင်းဖြဖြ ကြိုဆိုခြင်း ပြုကြလေသည်။

နပိုလီယန်၏ စစ်တပ်ကြီးသည် အနောက်မှ အရှေ့သို့ ချီတက်လျက်ရှိရာ န ပိုလီယန်ကို သယ်ဆောင် သည့် စခန်းထောက်တိုင်း အသစ်လဲထားသော မြင်း ခြောက် ကောင်က ရထားကြီးသည်လည်း အနောက်မှ အရှေ့သို့ ပြေးလျက်ရှိလေ သည်။ ဇွန်လ ၁၀-ရက်နေ့တွင် နပိုလီယန် သည် ၎င်း၏ စစ်တပ်ကြီးနှင့် တွေ့ဆုံ ကာ မိမိအတွက် အဆင်သင့် ပြင်ဆင်ထားသော ဝီလကာဝစ်စကီတောအုပ် အတွင်းရှိ ပိုလန်မြို့စားကြီးတစ်ဦး၏ ပိုင်စားနယ်မြေပေါ်မှ စံအိမ်တွင် ညအိပ် တည်းခိုခြင်း ပြုလေသည်။

နောက်တစ်နေ့တွင် နပိုလီယန်သည် ၎င်း၏ စစ်တပ်ကြီးကို မီလာခဲ့၍ ရထားငယ်တစ်စီးဖြင့် နီမင်မြို့ သို့ ရောက်လာခဲ့၏။ ထို့နောက် ပိုလန်စစ်သူကြီး ဝတ်စုံ ကို လဲလှယ်ဝတ်ဆင်ကာ မိမိ၏တပ်များ နီမင်မြစ်အား ဖြတ်ကူးရမည့် နေရာတစ်နေရာ ရွေးချယ်ရန် မြစ်ကမ်းသို့ ထွက်လာခဲ့လေသည်။

နီမင်မြစ်၏ တစ်ဖက်ကမ်းသို့ မျှော်၍အကြည့် လိုက်၌ စုရုံးလျက်ရှိသော ရုရှားကော့ဆက်မြင်းတပ်များနှင့် တကွ မော်စကိုသို့သွားရာလမ်းဖွေးဖွေးထင် လျက်ရှိသည့်  ဆုံးစမမြင်သော ရုရှားမြေပြန့်လွင်ပြင်ကြီးကို မြင်လိုက် သည်တွင် နပိုလီယန်သည် စစ်ဗျူဟာဆိုင်ရာ စည်းကမ်း များ၊ သံတမန်ဆိုင်ရာ စည်းကမ်း များအားလုံးကို ဦးခေါင်း ထဲမှ ဖယ်ထုတ်လိုက်လျက် မိမိ၏စစ်တပ်ကြီးကို အပြင်း ချီရန် ချက်ချင်း အမိန့်ထုတ်ပြန်လိုက်လေသည်။ ဤသို့ ဖြင့် နောက်တစ်နေ့ နံနက် မိုးသောက်အလင်းသို့ ရောက် သည်နှင့် နပိုလီယန်၏ စစ်တပ်ကြီးသည် နီမင်မြစ် ကို ဖြတ်ကူးလာခဲ့လေသည်။

ဇွန်လ ၁၂-ရက်နေ့ နံနက်စောစော၌ နပိုလီယန် သည် နီမင်မြစ်၏ မတ်စောက်သော လက်ဝဲဘက်ကမ်းထိပ် တွင် မိမိအတွက် နေ့ချင်းပြီး တည်ဆောက်ထားသော ယာယီတဲနန်းရှေ့သို့ ထွက်ရပ်လျက် ဝီလကာဝစ်စကီ တော အုပ်တွင်းမှ အရှိန်ကြီးမားသော ရေစီးကြောင်းကြီးတစ်ခု သဖွယ် စီးထွက်၍ နီမင်မြစ်ကို ဖြတ်ကူးထားသော တံတားသုံးစင်းပေါ်သို့ စီးဆင်းလျက်ရှိသော မိမိ၏တပ် များကို အဝေးကြည့်မှန်ပြောင်းတစ်လက်ဖြင့် လှမ်းကြည့် လျက် ရှိ၏။ မိမိတို့အား ဧကရာဇ်ဘုရင် နပိုလီယန်က ကြည့်လျက်ရှိသည်ဟု သိသည်နှင့် တစ်ပြိုင်နက် ပြင်သစ် စစ်သည်တပ်သားများသည် နပိုလီယန်ရှိရာ လက်ဝဲဘက် ကမ်းထိပ်ဘက်ဆီသို့ လှမ်းမျှော်ကြည့်ကြသည်တွင် ကမ်း ပါးထိပ်ရှိ ယာယီတဲနန်း ရှေ့ ကိုယ်ရံတော်များနှင့် ခပ် လှမ်းလှမ်း အကွာ၌ ဝတ်ရုံအင်္ကျီရှည်ကြီးကို ဝတ်၍၊ ကြက်မောက်သဏ္ဌာန် ဦးထုပ်ကို ဆောင်းလျက် ရပ်နေသူ တစ်ဦးကို မြင်ကြရ သည့်အတွက် ဦးထုတ်များကို မြှောက် ကာ "ဘုရင်ဧကရာဇ်မင်းမြတ် သက်တော် ရာကျော် ရှည် ပါစေ´ဟူသော အသံများဖြင့် အုန်းအုန်းကျွက်ကျွက် တော်လဲ သကဲ့သို့ တစ်ခဲနက် ဟစ်အော်ကြွေးကြော်ကာ ကောင်းချီးသြဘာပေးလျက် ရှိလေ သည်။ ဤသို့ဖြင့် တပ်ဖျောက်ထားရာ ကျယ်ပြန့်လှသော ဝီလကာ ဂစ်စကီ ဘော အုပ်အတွင်းမှ အဟုန်ပြင်းလှသော လူရေစီးကြောင်း ကြီးသည် တစ်လှိုင်းပြီးတစ် လှိုင်း လှိုင်းချင်းစပ်အောင် လိမ့်ဆင်းလာကာ တံတားသုံးစင်းပေါ်တွင် တဝေါဝေါ အော်မြည်ဖြတ်ကျော်၍ နီမင်မြစ်တစ်ဖက်ကမ်းသို့ တရ ဟော စီးဆင်းလျက်ရှိလေ သည်။

"ါ သွေးသောက်တို့၊ တိုက်ပွဲတိုက်ရတော့မယ် ဗျ။ ကြည့်စမ်းဗျ၊ ကျုပ်တို့ရဲ့ ဘုန်းတော်ကြီးလှသော ဘုရားကိုယ်တော်တိုင် ကွပ်ကဲတော်မူသည်။ ဝမ်းသာစရာ ကြီးပဗျာ။ (ဘုရင်ဧကရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည်ပါစေ။) ဟု ကိုယ့် လူတို့၊ ဟောဒါ အာရှတိုက်ရဲ့ လွင်ပြင်ကြီးပဲကွ။ ရုရှားဆိုတဲ့ တိုင်းပြည်ကတော့

လား လားမျှ နေဖို့ထိုက်တဲ့ တိုင်းပြည်တစ်ခုမဟုတ်ဘူးကွ။ ဟု ဗျူချော သွားနှင့်ပြီ ဟေ့။ မော်စကိုရောက်လို့ရှိရင် မင်းဖို့ နန်းတော်တစ်ဆောင် အဆင်သင့်ပြင်ထား မယ်။ သိလား။ ဟေ့ကောင် ကမ်းထိပ်မှာရပ်နေတဲ့ ဘုန်းတော်ကြီး သော ဘုရားကို မြင်ရရဲ့လား။ (ဘုရင်ဧကရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည်ပါစေ။) ဟေ့ ကိုယ့်လူ ဂျီးရပ်၊ စစ်နိုင်လို့ ငါအိန္ဒိယဘုရင်ခံဖြစ်ရင် မင်းကို ကသ္မီယနယ်ကို အပိုင်စား ပေးသနားတော်မူမယ် ဟုတ်လား။ (ဘုရင် ဧကရာဇ်မင်းမြတ် သက် တော်ရာကျော်ရှည်ပါစေ။) ဟေး ဟေး၊ ယောက်ျားဘသားကွ။ ကြည့်စမ်းဟေ့ ဟို ဘက်ကမ်း က ခွေးသားရုရှားကောင့်ဆက်တွေ အသားနီလန်အောင် ပြေးကုန်ပြီ။ (ဘုရင်ဧကရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည်ပါစေ။) ဒါ့လူ ဘုန်းတော် ကြီးသောဘုရားကို မြင်ရ ရဲ့လား။ ကျုပ်နားကနေကြည့်ရင် မြင်ရတယ်ဗျ။ (ဘုရင် ဧကရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည်ပါစေ)”

လူတန်းစားအမျိုးမျိုး၊ အကျင့်စာရိတ္တအထွေထွေ၊ အသက်အရွယ် အစားစား ပါဝင်သည့် ပြင်သစ်တပ်သား များသည် ဤသို့ တစ်ယောက်တစ်ပေါက် အော်ဟစ် ပြောဆို လျက်ရှိကြ၍ ထိုပြောဆိုသံများအကြားမှ ကြွေးကြော်သံ များကလည်း မဟာပထဝီမြေတုန်ဟည်းလုခမန်း၊အံ့ဘနန်း မြည်ဟိန်းထွက်ပေါ်လျက် ရှိလေ သည်။ လူအမျိုးမျိုး၊ စာရိတ္တအထွေထွေ၊ အသက်အရွယ် အစားစားသော ကွဲပြား သော်လည်း ၎င်းတို့အားလုံး၏ မျက်နှာများ၌ကား အနှစ် နှစ် အလလက စောင့်ဆိုင်းရသော စစ်ပွဲကြီး စတင်ဖြစ်ပွား လာပြီဖြစ်သည့်အတွက် ဝမ်းမြောက် ကြည်နူးခြင်း၊ လက်ဝဲ ဘက် ကမ်းပါးစောက်ထိပ်၌ ပြာမွဲမွဲဝတ်ရုံအင်္ကျီကြီးကို ဝတ်၍ ရပ်လျက်ရှိသည့် ဧကရာဇ်ဘုရင် နပိုလီယန်အား ကြည်ညိုလေးစားခြင်း စ သည့် သဏ္ဍာန်တို့ကို တညီ တညွတ်တည်း ဖော်ပြလျက် ရှိကြလေသည်။

ဇွန်လ ၁၃-ရက်နေ့၌ အမျိုးကောင်းလှသော အာရပ် မြင်းပုတစ်ကောင်ကို န ပိုလီယန် ရှေ့မှောက်သို့ ယူဆောင်လာကြလေသည်။ နပိုလီယန်သည် အာရပ်မြင်း ပုကလေးပေါ်သို့ တက်လိုက်ပြီးနောက် နီမင်မြစ်ကို ဖြတ် ကူးထားသည့်တံတား တစ်ခုပေါ်သို့ ဒုန်းစိုင်း၍ စီးလာခဲ့၏။ နပိုလီယန်အား ကောင်းချီးသြဘာပေးကြ သော ပြင်သစ် တပ်သားများ၏ ကြွေးကြော်သံများကား ပြတ်သည်ဟူ၍ မရှိဘဲ နားကွဲလုခမန်း ရှိလေသည်။ မိမိအား ချစ်ကြည် လေးမြတ်၍ ဟစ်ကြွေးကြသော ကောင်းချီးသြဘာသံများ ဖြစ်ခြင်းကြောင့် တားမြစ်ရန် မသင့်လျော်သည့်အတွက် သာ နပိုလီယန်သည် ဤမျှ အုန်းအုန်းမြည်သံ သောင်းသောင်း ညံလျက်ရှိသော ဟစ်ကြွေးသံများကို သည်းခံနေရခြင်း ဖြစ်သော်လည်း သွားလေရာရာတွင် ကြား နေရသော ထို ကြွေးကြော်သံများသည် ရှေ့ပြောင်းချီတပ်စခန်းသို့ ရောက် လာ ကတည်းက စဉ်းစားလျက်ရှိသော စစ်ရေးစစ်ရာကိစ္စ များကို ဆက်လက်စဉ်းစား ခြင်း မပြုနိုင်လောက်အောင် နပိုလီယန်ကို အနှောင့်အယှက်ပေးလျက် ရှိကြ လေ၏။ နပိုလီယန်သည် မြစ်ရေစီးထဲတွင် လှုပ်ရှားလျက်ရှိသော ယာယီသစ်တုံး တံတားကို မြင်းဖြင့် ဖြတ်ကျော်ကာ တစ်ဖက် ကမ်းသို့ ကူးခဲ့၍ ဝဲဘက်တည့်တည့် သို့ချိုးကာ ကော့ဗနိုသို့ သွားသည့် ပေတစ်ရာလမ်းမဆီသို့ စီးလာခဲ့လေသည်။ ၎င်း၏ရှေ့၌ကား အသက်ကိုမျှ မှန်မှန်မရှုနိုင်လောက် အောင် ပီတိဖြစ်လျက်ရှိကြ သော ကိုယ်ရံတော်မြင်းတပ်သား များသည် မြင်းများကို ကဆုန်ချစီးကာ အထွေးထွေး ဖြစ်နေသော တပ်သားများအား ဘေးသို့ အဖယ်ခိုင်းရင်း လမ်းရှင်း လျက် ရှိကြ၏။ ကျယ်ပြန့်လှသော ဝိလိယမြစ် ကမ်းသို့ ရောက်လာသောအခါ၌ န ပိုလီယန်သည် မြစ် ကမ်းဘေးတွင် တပ်စွဲထားသော မိမိ၏သစ္စာတော်ခံ ပိုလန် မြင်းတပ်ရင်း တစ်ရင်းအနီး၌ မြင်းကို ရပ်တန့်လိုက် သည်။

- "သတိ" ပိုလန်မြင်းတပ်သားများက တန်းစီ၍ အရိုအသေ ပြုလိုက်ပြီး နောက် နပိုလီယန်ကို သူ့ထက်ငါ တိုးဝှေ့ကြည့်ကြ၏။

နပိုလီယန်သည် မြစ်အကြောအညာကို တိမ်းငဲ့ကြည့် လိုက်ပြီးနောက် မြင်းပေါ်မှဆင်းလျက် မြစ်ကမ်းရှိ သစ်တုံး တစ်တုံးပေါ်တွင် ထိုင်လိုက်၏။ နပိုလီယန်က လက်ဟန် ခြေဟန်ဖြင့် အချက်ပြလိုက်သည်နှင့် အခြွေအရံများက မှန်ပြောင်းတစ်လက်ကို လာရောက်ဆက်သကြ၏။ နပို လီယန်သည် မိမိရှေ့တွင် အားရဝမ်းသာဖြင့် လာရောက် ဝပ်တွားပေးသော လူပျိုတော်သားတစ်ယောက်၏ ကျော ကုန်းပေါ်တွင် မှန်ပြောင်းကိုတင်၍ ဝိလိယ မြစ်တစ်ဖက် ကမ်းသို့ ကြည့်လိုက်၏။ ထို့နောက် သစ်တုံးပေါ်တွင် ဖြန့်ခင်းထားသည့် မြေပုံတစ်ခုဖြင့် အလုပ်များလျက်ရှိသည်။ နပိုလီယန်သည် မြေပုံကို ငုံ့ကြည့်လျက်ရှိရာမှ ခေါင်းမမော့ ဘဲ အနီးရှိ ကိုယ်ရံတော်နှစ်ဦးအား တစ်စုံတစ်ရာ ပြောဆို လိုက်၏။ ကိုယ်ရံတော်တစ်ဦးသည် ပိုလန် မြင်းတပ်သား များထံသို့ မြင်းကို ဒုန်းစီး၍ ရောက်လာလေသည်။

"ဘာလဲဗျ ဗိုလ်မှူး၊ ဧကရာဇ်ဘုရင်မင်းမြတ်က ဘယ်လို အမိန့်တော်ရှိလဲ" ပိုလန်မြင်းတပ်သားများသည် မိမိတို့ထံ ရောက်လာသော ကိုယ်ရံတော် ဗိုလ်မှူးအား တစ်ယောက်တစ်ခွန်း မေးမြန်းလျက်ရှိကြလေသည်။

နပိုလီယန်၏အမိန့်မှာ စည်းစိမ်ကိုရှာ၍ ဝိလိယ မြစ်ကို ဖြတ်ကူးရန်ဖြစ်၏။ ရုပ်ရည်ခံ့ညား၍ အသက် အတန်ကြီးပြီဖြစ်သော ပိုလန်မြင်းတပ်ဗိုလ်မှူးကြီးသည် မျက်နှာနီရဲလျက် ဝမ်းသာအားရဖြင့် မိမိနှင့်တကွ မိမိတို့ မြင်းတပ်သားများသည် စည်းတိမ်ရာကို ရှာမနေတော့ဘဲ ရောက်သည့်နေရာမှပင် ဖြတ်ကူးရန် အသင့်ရှိကြောင်း၊ ဤသို့ ဖြတ်ကူးခြင်းကို ခွင့်ပြုပါမည်လောဟု ကိုယ်ရံတော် ဗိုလ်မှူးကို မေးမြန်းခြင်း ပြုလေသည်။ ဤသို့ မေးမြန်း ရာတွင် ပိုလန်ဗိုလ်မှူးကြီး၏ မျက်နှာမှာ မြင်းစီးခွင့် တောင်းလျက်ရှိသော ကလေးသူငယ်တစ်ယောက်၏ မျက်နှာကဲ့သို့ မိမိတို့အား ခွင့်မပြုပါလေမည်လောဟု စိုးရိမ်သည့်အမူအရာတို့ ဖုံးလွှမ်းလျက်ရှိ

လေသည်။ ထို နောက် ဘုရင်ကေရာဇ်မင်းမြတ် ရှေ့တော်မှောက်မှာပင် မြစ် တစ်ဖက်ကမ်းသို့ သက်စွန့် ကြိုးပမ်းကူးပြုခြင်းဖြင့် မိမိတို့၏ ရဲစွမ်းသတ္တိကို ပြခွင့် ပြုပါရန် ကိုယ်ရံတော် တပ်မှူးအား တောင်းပန်လျက်ရှိ၏။ ဤတွင် ကိုယ်ရံတော် ဗိုလ်မှူးက ဘုရင်ကေရာဇ်မင်းမြတ်သည် ဤသို့ သက်စွန့် ကြိုးပမ်း အမှုတော် ထမ်းခြင်းကို သဘောတော်မကျစရာ အကြောင်းမရှိကြောင်းဖြင့် ပြောဆိုလိုက် သည်။

ကိုယ်ရံတော်ဗိုလ်မှူးက ဤသို့ပြောလိုက်သည်နှင့် တစ်ပြိုင်နက် မုတ်ဆိတ် မွေးရေးရေးရှိသော ပိုလန်ဗိုလ်မှူး ကြီး၏မျက်နှာမှာ ဝင်းထိန်သွားကာ ဓားကို မြှောက်၍ ကိုင်လိုက်ပြီး “သတိ” အနေအထား ရှိနေရန်နှင့် မိမိနောက် သို့ လိုက် လာရန် အမိန့်ပေးလိုက်လျက် မြင်းကို သံဆူး များဖြင့် ပေါက်ကာ မြစ်ထဲသို့ ဒုန်းစိုင်း၍ စီးသွားလေ သည်။ ပိုလန် မြင်းတပ်ဗိုလ်မှူးကြီးသည် တလှုပ်လှုပ် တ ရွရွ ဖြစ်လျက်ရှိသော မြင်းကို ဆောင့်၍ သံဆူးဖြင့် ပေါက်လိုက်ပြီးနောက် ရေထဲ တွင် တစွက်စွက်စီးကာ ဝိလိယမြစ်၏ ရေစီးအသန်ဆုံးနှင့် အနက်ဆုံးသော နေရာ ဆီသို့ ရှေးရှုလာခဲ့၏။ ဤတွင် ရာပေါင်းများစွာသော ပိုလန်မြင်းတပ်သားများသည် လည်း ၎င်း၏နောက်သို့ ဒုန်းစီး၍ လိုက်လာကြလေသည်။ ဝိလိယ မြစ်လယ်ခေါင် ၌ကား နောက်ကျိညစ်ပတ်၍ အေးမြသောရေလျှဉ်သည် အဟုန်ပြင်းစွာ စီးဆင်း လျက်ရှိ၏။ ပိုလန် မြင်းတပ်သား များသည် မြစ်ရေစီးကြောင့် မျောပါကြသည်၌ တစ် ယောက်ကိုတစ်ယောက် လှမ်း၍ ဆွဲလျက်ရှိကြသည်။ အချို့မြင်းများနှင့် အချို့တပ်သားများသည် ရေစီးတွင် စုံစုံးနစ်မြုပ်ကြလျက်၊ အချို့ကား လျင်မြန်စွာ စီးလျက် ရှိသည့် ရေစီးကြောင်းထဲတွင် ကူးခပ်လျက်၊ အချို့ကား ရုန်းကန်ကူးခပ် လျက်ရှိသော မြင်းများ၏ လည်ဆံကို ဆွဲလျက်ဖြင့် သောသောရုတ်ရုတ် ဖြစ်လျက် ရှိကြလေ သည်။ ဤသို့ဖြင့် ပိုလန် မြင်းတပ်သားများသည် ဝိလိယ မြစ်၏ တစ်ဖက်ကမ်းကို ဖြတ်ကူးလျက် ရှိကြ၏။ ဤ နေရာမှ မိုင်ဝက်ခန့်ဝေးသော မြစ်

တစ်နေရာ၌ လွယ်လွယ် နှင့် ဖြတ်ကူးနိုင်သော ရေတံမြက်စည်းတိမ်တစ်ခု ရှိသော်လည်း မြစ်ကမ်းနဖူးထိပ်၌ နပိုလီယန်၏ မျက်စိရှေ့မှောက် တွင် ယခုကဲ့သို့ စွန့်စွန့်စားစား ဖြတ်ကူးပြလိုကြသည့် အတွက် ဤသို့ ရေနက်မှ ဖြတ်ကူးကြခြင်းဖြစ်လေသည်။ သို့ရာတွင် ကမ်းနဖူးရှိ သစ်တုံးပေါ်၌ ထိုင်လျက်ရှိသည့် နပိုလီယန်ကား ဤအခြင်းအရာကို စောင်းငဲ့ကြည့်ရှုခြင်းပင် မပြုချေ။ ကိုယ်ရံတော်ဗိုလ်မှူးသည် နပိုလီယန်၏ အနီးသို့ ရောက်သောအခါ၌ အရှင့်အမှုတော်ကို သက်စွန့်ကြိုးပမ်း ထမ်းဆောင်ကြသည့် ပိုလန် မြင်းတပ်သားများအကြောင်း ကို လျှောက်တင်ရန် အတွက် မျက်နှာရိပ် မျက်နှာကက်ကို ကြည့်ကာ အခါအခွင့်ကို စောင့်ဆိုင်းလျက်ရှိ၏။ မီးခိုးရောင် ဝတ်စုံကြီးကို ဝတ်ထားသည့် လူပုကလေး နပိုလီယန်ကား ထိုင်ရာမှထကာ ဗိုလ်ချုပ်ဘာသီးယားကို ဆင့်ခေါ်၍ မြစ်ကမ်းပါးတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်ရင်းက ညွှန်ကြားချက်များ ပေးလျက်ရှိလေသည်။ တစ်ချက်တစ် ချက်၌လည်း ဝိလိယမြစ်ရေစီးတွင် မိမိ၏အာရုံကို ပျက်ပြား လောက်အောင် ကူးခပ်နစ်မြုပ်လျက်ရှိသော ပိုလန် မြင်း တပ်သားများကို နှစ်ခြိုက်ခြင်း မရှိဟန်ဖြင့် လှမ်း၍ ကြည့်လျက်ရှိလေသည်။

အာဖရိကတိုက်မှသည် အာရှတိုက်ရှိ လွင်ပြင်များ အဆုံး၊ ကမ္ဘာတစ်ဝှမ်းလုံးရှိ မည်သည့်နေရာတွင်မဆို မိမိ ကိုယ်ထင်ပြလိုက်သည်နှင့် တစ်ပြိုင်နက် များစွာသော လူများသည် စပါးကြီး အညှို့ခံရသူပမာ ကိုယ်အဖြစ်ကို သော်မှ သတိမထားနိုင်ကြတော့ဘဲ မိမိအတွက် မည်သို့ သော အသက်စွန့်ခြင်းမျိုးကိုမဆို ပြုလုပ်ရန် အဆင်သင့် ရှိကြသည်ဟု ယုံကြည်လျက်ရှိသော နပိုလီယန်အဖို့ကား ပိုလန် မြင်းတပ်သားများ၏ သက်စွန့်ကြိုးပမ်း အမှုတော် ထမ်းရွက်ခြင်းသည် အသစ်အဆန်း မဟုတ်တော့ချေ။ နပိုလီယန်သည် မိမိမြင်းကို အယူလွှတ်လိုက်ပြီးနောက် မိမိစခန်းသို့ ပြန်လာခဲ့လေသည်။

ဝိလိယမြစ်ထဲသို့ လှေသမ္ဗန်များလွှတ်၍ ဆယ်စေ သော်လည်း ပိုလန် မြင်းတပ်သား လေးဆယ်ခန့် ရေနစ် သေဆုံးကြလေသည်။ မြင်းတပ်သားအများစု ကား မိမိတို့ စတင်ထွက်ခွာသည့် ကမ်းဘက်သို့ ပြန်၍ ကူးခပ်လာကြ ၏။ မြင်းတပ် ဗိုလ်မှူးကြီးနှင့် တပ်သားအချို့သာလျှင် ၊ တစ်ဖက်ကမ်းသို့ ခဲယဉ်းစွာ ရောက်ရှိသွားကြလေသည်။

မြင်းတပ် ဗိုလ်မှူးကြီးနှင့် တပ်သားများသည် တစ်ဖက် ကမ်းသို့ ရောက် သည်နှင့် စွတ်စိုလျက်ရှိသော အဝတ်အစား များဖြင့် စောစောက နပိုလီယန် ရပ် လျက်ရှိသော တစ် ဖက်ကမ်းနဖူးကို လှမ်းမျှော်ကြည့်ကာ “ဘုရင်ဧကရာဇ် မင်း မြတ် သက်တော်ရာကျော် ရှည်ပါစေ”ဟု အော်ဟစ် လျက်ရှိကြကာ နပိုလီယန်ရှေ့ တွင် မိမိတို့၏ သက်စွန့် ကြိုးပမ်း ဆောင်ရွက်ခဲ့ခြင်းအတွက် ဝမ်းမြောက်ဂုဏ်ယူ လျက် ရှိကြလေသည်။

ထိုနေ့ညတွင် နပိုလီယန်သည် အမိန့်ပြန်တမ်းနှစ် ရပ်ကို ထုတ်ပြန်လိုက် လေသည်။ အမိန့်ပြန်တမ်းတစ်စောင် မှာ ရုရှားပြည်တွင်းသို့ ရောက်လျှင် အဆင်သင့် သုံးစွဲ နိုင်ရန်အတွက် ပြုလုပ်ထားသည့် ရုရှားငွေစက္ကူအတုများ ကို အ မြန်ဆုံး ဖြန့်ဝေရန် အမိန့်ဖြစ်လျက်၊ အခြားအမိန့် ပြန်တမ်းတစ်စောင်ကား ပြင် သစ်စစ်တပ်ကြီးအား ထုတ် ပြန်သော အမိန့်များနှင့် ပတ်သက်သည့် သတင်းစကားများ ပါသောစာများကို ယူဆောင်လာသူ မည်သူ့ကိုမဆို တွေ့ရှိ ပါက ချက်ချင်းပစ်သတ်ရန် အမိန့်ဖြစ်လေသည်။ ဤ အမိန့်ပြန်တမ်း နှစ်ရပ်ကို ထုတ်ပြန်ရာ၌ နပိုလီယန်သည် အချိန်ခြား၍ ထုတ်ပြန်ခြင်းဖြစ်ရာ ထို အမိန့်ပြန်တမ်း နှစ်စောင် ထုတ်ပြန်သည့် ကြားအချိန်၌ လိုအပ်ခြင်းမရှိဘဲ ဝိလိယ မြစ်ကို ရေနက်မှ ဖြတ်ကူးသည့် ပိုလန်မြင်းတပ် ဗိုလ်မှူးကြီးအား အမြင့်ဆုံးသော

ဘွဲ့တံဆိပ်ဖြစ်သည့် "လီဂျင်းအော့ဖ် အော်နာ' ဘွဲ့ထူးကို ချီးမြှင့်ရန်လည်း သက်ဆိုင်ရာသို့ ညွှန်ကြားချက် ထုတ်ပြန်လိုက်လေသည်။

ဘုန်းရှင်၊ ကံရှင်၊ ပါရမီရှင် မည်သည် မိမိပျက်စီး စေလိုသူတို့အား ရူးသွပ်သော အပြုအမူတို့ကို ပြုမူစေခြင်း ဖြင့် ပျက်စီးခြင်းသို့ ရောက်စေသည်ဟု ဆိုကြသည် မဟုတ်လော။

# အခန်း ၃

ထိုအတောအတွင်း၌ကား ရုရှားကေရာဇ် အလက်ဇန်းဒရား သည် ဝီလနာ မြို့တွင် တစ်လတာမျှ စံမြန်းလျက်ရှိကာ ဗိုလ်ရှုသဘင်ခံခြင်း၊ စစ်အင်ကျင်းပွဲများ ပြုလုပ်ခြင်း စသည်တို့ကို ဆောင်ရွက်လျက် ရှိလေသည်။ ၎င်းတို့ အားလုံးကပင် စစ်ပွဲကြီး စတင်ဖြစ်ပွားလာတော့မည်ဟု မျှော်လင့်လျက် ရှိကြသော်လည်း စစ်တိုက်ရန် အဆင်သင့် မဖြစ်သေးချေ။ အလက်ဇန်းဒရားဘုရင်သည် စစ်ပွဲအတွက် ပြင်ဆင်ဖွယ်ရှိသည်တို့ကို ပြင်ဆင်ရန် ပီတာစဘတ် ရွှေ မြို့တော်မှ ဝီလနာမြို့သို့ ရောက်ရှိလာခဲ့ခြင်း ဖြစ်သော် လည်း စစ်မှုရေးရာနှင့် ပတ်သက်သည့် စီမံကိန်းဟူ၍လည်း မရှိသေးချေ။ ဗိုလ်ချုပ်၊ ဗိုလ်မှူး၊ စစ်မှူး၊ စစ်ကဲတို့ တင်ပြထားသည့် စစ်ဗျူဟာ စီမံကိန်းတို့အနက် မည်သည့်စီမံကိန်း ကို ချမှတ်ရမည်နည်းဟု စစ်ဦးစီးဌာနချုပ်တွင် ဝေခွဲမရ ဖြစ်လျက် ရှိခဲ့သည်မှာလည်း တစ်လခန့်မျှ ကြာမြင့်ခဲ့လေ ပြီ။ စစ်ဦးစီးဌာနချုပ် အခြေစိုက်ရာ ဝီလနာမြို့သို့ ရုရှား ဘုရင် ရောက်လာသည့်အခါတွင်မူကား အခြေအနေမှာ ဆိုးသည်ထက် ဆိုးလာကာ ပို၍ပင် ဝေခွဲမရအောင် ရှုပ်ထွေးလာတော့သည်။ အနောက်ဘက်ကြောင်းချီ တပ်မတော်၊ တောင်ဘက်ကြောင်းချီ တပ်မတော်နှင့် အရန် တပ်မတော် စသည့် တပ်မတော်ကြီး သုံးခုစလုံး၌ ဗိုလ် ချုပ်ကြီး ဘာကလေဒီတိုလီ၊ ဗိုလ်ချုပ်ကြီး ဘာ

ဂရေးရှင်း  နှင့် ဗိုလ်ချုပ်ကြီး တိုမာဆော့ဗ် စသဖြင့် စစ်သေနာပတိ များ အသီးသီး ရှိကြသော်လည်း တပ်ပေါင်းစုံ စစ်သေနာ ပတိချုပ်ဟူ၍ ယခုတိုင် မရှိသေးချေ။ ဘုရင်မင်းမြတ် ကိုယ်တော်တိုင်ကလည်း တပ်ပေါင်းစုံ စစ်သေနာပတိချုပ် ၏ အရာကို ယူခြင်းမပြုသေးချေ။

ထို့မျှမက ဝီလနာမြို့တွင် ဘုရင်ကေရာဇ်မင်းမြတ် စံမြန်းတော်မူသည့် ကာလ ကြာညောင်းသည်နှင့်အမျှ စစ် ပြင်ဆင်မှုများမှာလည်း တစ်နေ့တခြား လျော့ပါးလျက် ရှိလေသည်။ ဘုရင်မင်းမြတ်၏အပါးတွင် ခစားလျက်ရှိသူ အားလုံး မှာလည်း ဘုရင်မင်းမြတ် စိတ်လက်ကြည်သာခြင်း ရှိတော်မူရန်နှင့် တဖြည်းဖြည်း နီးကပ်လာသော စစ်ပွဲကြီး ၏ အခြင်းအရာများအား မေ့ပျောက်စေရန်ကိုသာ အစွမ်း ကုန် ကြိုးပမ်းအားထုတ်လျက် ရှိကြလေသည်။

ဇွန်လထဲ၌ ပိုလန်မှူးမတ်ကြီးများ၊ ရွှေနန်းတော် အမှုထမ်းများနှင့်တကွ အလက်ဇန်းဒရား ဘုရင်မင်းမြတ် ကိုယ်တော်တိုင်တို့သည် ကပွဲများ၊ ညှော့ခံပွဲများ ကို တစ်လှည့် စီ ကျင်းပလျက် ရှိခဲ့ရာမှ ပိုလန်ကိုယ်ရံတော် ဗိုလ်မှူးတစ်ဦး သည် မိမိတို့ ကိုယ်ရံတော် ဗိုလ်များကလည်း ဘုန်းတော် ကြီးလှသော ဘုရားကို ဂုဏ်ပြု သောအားဖြင့် ညစာစားပွဲကြီး တစ်ခုနှင့် ကပွဲကြီးတစ်ခု ကျင်းပရန် အကြံရလာ လေသည်။ ၎င်း၏အကြံကို အားလုံးသော ကိုယ်ရံတော် ဗိုလ်မှူးများ ကလည်း ထောက်ခံကြသည်။ အလိုက်သိသော ဘုရင် မင်းမြတ်ကလည်း သဘောကြိုက်ညီ တော်မူသည်။ ဤသို့ ဖြင့် ကိုယ်ရံတော် ဗိုလ်မှူးများအားလုံး အချိုးကျ ရန်ပုံငွေ ထည့်ဝင်ကြ၏။ ဘုရင်ကေရာဇ် အနှစ်သက်ဆုံးဟု ထင်ရ သော အမျိုးသမီးတစ် ယောက်ကိုလည်း အိမ်ရှင်အဖြစ် ဆောင်ရွက်ရန် ဖိတ်ကြားထားကြ၏။ မြို့စားကြီး ဗိုလ်ချုပ် ဘင်နစ်ဆန်မှာ ဝီလနာနယ်တွင် မြေပိုင်ရှင်တစ်ဦး ဖြစ် သည့်အလျောက် ညစာစားပွဲနှင့် ကပွဲကျင်းပရန် မိမိ၏ ကျေးတောစံအိမ်ကို အသုံးပြုခွင့် ပေးထား လေသည်။ ညစာစားပွဲ၊ ကပွဲနှင့် လှေပြိုင်ပွဲကို ဇွန်လ ၁၃-ရက်နေ့ တွင် သတ်မှတ်

လိုက်ပြီး မြို့စားကြီး ဘင်နစ်ဆန်စံရာ ကျေးရွာဖြစ်သည့် ဇာကရက်ရွာတွင်လည်း မီးရှူးမီးပန်းများ ပစ်ဖောက်ရန် သတ်မှတ်ထားလေသည်။

နပိုလီယန်က နီမင်မြစ်ကို ဖြတ်ကူးရန် အမိန့်ပြန် တမ်း ထုတ်ပြန်၍ ၎င်း၏တပ်ဦးများက ရုရှားကော့ဆက် မြင်းတပ်များကို မောင်းထုတ်ကာ ရုရှား နယ်စပ်ကို ကျော် တ်လာသည့် ဇွန်လ ၁၃-ရက်နေ့၌ကား ရုရှားနိုင်ငံ ပြည့်ရှင်ဒက ရာဇ်မင်း အလက်ဇန်းဒရားသည် မြို့စားကြီး အင်န်ဆန်၏ ကျေးတောစံအိမ်၌ မိမိ၏ ကိုယ်ရံတော် ဗိုလ်မှူးများက ကျင်းပသော ပျော်ပွဲရွှင်ပွဲများတွင် အချိန် ကုန် လျက် ရှိလေသည်။

ကိုယ်ရံတော် ဗိုလ်မှူးတို့၏ ညှော့ခံပွဲကား စည်ကား သိုက်မြိုက်လှပေ၏။ ဤ ကဲ့သို့သော ညှော့ခံပွဲများသို့ အမြဲ တက်ရောက်လေ့ရှိ၍ ကျွမ်းကျင်နှံ့စပ်သူများကမူ ဤမျှလောက် မိန်းမချော မိန်းမလှများ စုံစုံညီညီ တက် ရောက်သော ညှော့ခံပွဲမျိုး ကို တစ်ခါမျှ မတွေ့ဖူးသေးဟု စဉ်းစားထုတ်ဖော် ပြောဆိုခြင်း ပြုကြလေသည်။ ပီ တာ ဘတ် ရွှေမြို့တော်မှ ဝီလနာမြို့သို့ ဘုရင်ကေရာဇ်မင်း မြတ်ကို ခစားလိုက်ပါ လာကြသော ရုရှား မြို့တော်သူများ အနက် မြို့စားကတော်ကလေး ဟယ်လင် သည်လည်း အပါအဝင် ဖြစ်လေသည်။ မြို့စားကတော်ကလေး ဟယ်လင်မှာ "ရုရှားအလှ´ဟု ခေါ်ကြသော ပြည့်ပြည့် ဝန်းဝန်း ရွှန်းရွှန်းစက်စက်ကြီးရှိသော အလှမျိုးကို ပိုင်ဆိုင် သူဖြစ်လေရာ ပိုလန်နန်းတွင်းသူတို့၏ အလှမှာ မြို့စား ကတော် ဟယ်လင်၏အလှနှင့် ယှဉ်လိုက်သောအခါတွင် ရာဟုဖမ်းခြင်းခံရသော လဝန်းကဲ့သို့ မှေးမှိန်လျက်ရှိလေ ၏။ ဘုရင်သည် ဤသို့လျှင် ဝန်းဝန်းစက် စက်ကြီးလှသော မြို့စားကတော်ကလေး ဟယ်လင်ကို သတိပြုမိကာ ချီးမွှင့်ဂုဏ် ပြုသည့် သဘောဖြင့် တစ်ကြိမ် တွဲကတော်မူလေ သည်။

ဘိုးရစ်စ်သည် မိမိ၏ဇနီးသည် ဂျူလီကို မော်စကို တွင် ထားခဲ့သဖြင့် (၎င်း၏စကားလုံးအတိုင်းပြောရလျှင်) လူပျိုတစ်ဦးဖြစ်လျက်ရှိ၏။ ထိုညကပွဲနှင့် ထမင်းစားပွဲသို့ ဘိုးရခ်စ်လည်း ရောက်လာလေသည်။ ဘိုးရစ်စ်သည် ကိုယ်ရံတော် ဗိုလ်မှူးတစ်ယောက် မဟုတ်သည့်တိုင် ကပွဲရန်ပုံငွေသို့ ငွေအမြောက်အမြား ထည့်ဝင်ခဲ့လေသည်။ ယခုအချိန်၌ ဘိုးရစ်စ်မှာ (တစ်ဦးတည်းသော အမွေခံသမီး လီနှင့် လက်ထပ်ခဲ့ပြီး ဖြစ်သည့်အလျောက်) အထက် တန်း လူကုံထံအသိုင်းအဝိုင်းသို့ ရောက်ရှိနေသော သူကြွယ် ကလေးတစ်ဦး ဖြစ်လျက်ရှိရကား မည်သူ၏ အရိပ်အာဝါသကိုမှ ခိုလှုံခြင်းပြုရန် မလိုတော့ဘဲ မိမိနှင့်ရွယ်တူ   လူကုံထံ အသိုင်းအဝိုင်းနှင့် တန်းတူရည်တူ ပေါင်းသင်း ဆက်ဆံနိုင်သော အခြေသို့ ရောက်ရှိခဲ့လေပြီ။ ဘိုးရစ်စ် သည် မြို့စားကတော်ကလေး ဟယ်လင်နှင့် ကာလ အတော်ကြာမျှ ကွဲကွာလျက်ရှိခဲ့ရာမှ ဝိလနာမြို့ ညှော်ခံပွဲ တွင် ပြန်လည်ဆုံတွေ့ကြပြန်လေသည်။ သို့ရာတွင် ယခုအကြိမ် တွေ့ဆုံကြသည့်အခါတွင်မူ မြို့စားကတော်ကလေး ဟယ်လင်မှာ များစွာ အရေးကြီးသော ပုဂ္ဂိုလ်ကြီး တစ်ဦး၏ အရေးပေးခြင်းကို ခံရလျက်ရှိသည့်အတွက် ကြောင့် တစ်ကြောင်း၊ ဘိုးရစ်စ်မှာလည်း များမကြာမီကမှ လက်ထပ်ပြီးခဲ့သည့်အတွက်ကြောင့် တစ်ကြောင်း သိ ဟောင်းကျွမ်းဟောင်းများ အဖြစ်သာ ဆက်ဆံခြင်း ပြု ကြလေသည်။

ညသန်းခေါင်အထိ ကပွဲမှာ ခြိမ့်ခြိမ့်သဲ စည်ကား လျက် ရှိလေသည်။ မြို့စားကတော်ကလေး ဟယ်လင်သည် သင့်လျော်သည့်တွဲဖက်ကို ရှာမရနိုင်သည့်အတွက် တိုးရစ်စ် အား မိမိနှင့်အတူ ပိုလန် မာဇူကာ အကတစ်ချီလောက် က ပြခြင်းပြုရန် ဖိတ်ကြားလေသည်။ ဘိုးရစ်စ်နှင့် မြို့စား ကတော်ကလေး ဟယ်လင် တို့မှာ တတိယမြောက် အတွဲ ဖြစ်၏။ ဘိုးရစ်စ်သည် မှန်သားကဲ့သို့ ပါးလွှာ၍ ရွှေပြောက် ရွှေမွမ်းတို့ ရေးခြယ်အပ်သော အနက်ရောင် မာရဘက် ဝတ်စုံအထက်မှ တင့်ရှန်းစွာပေါ်နေသည့် ဟယ်လင်၏ ဖြူဖွေးဝင်းလက်သော ပခုံးသားများကို စိုက်

လျက် ရှိရာမှ၊ မြို့စားကတော်ကလေး ဟယ်လင်၏ သိဟောင်း ကျွမ်းဟောင်းများ အကြောင်းကို ပြောဆိုလျက် ရှိရင်း မိမိတို့ ပွဲတက်ဆောင်ထဲတွင် ရောက်ရှိနေသည့် ဘုရင် မင်းမြတ်ကို မျက်ခြည်မပြတ် စူးစိုက်ကြည့်နေမိသည်။ အလက်ဇန်းဒရား ဘုရင်မင်းမြတ်သည် တွဲကတော်မူခြင်း ( မပြုဘဲ၊ ပွဲတက်ဆောင်ဝ၌ ရပ်လျက် မိမိအနီးသို့ ရောက်ရှိ လာသော ပွဲကသူမောင်နှံများကို မင်္ဂလာနှုတ်ခွန်း ဆက်သတော်မူလျက် ရှိ၏။ အချိန်အခါနှင့်လိုက်အောင် မင်္ဂလာ ရှိသော စကားများကို မည်သို့ မည်ပုံ မြွက်ကြားရမည်ကို သိသူမှာလည်း အလက်ဇန်းဒရား ဘုရင်မင်းမြတ် တစ်ဦး တည်းရှိသည်ဟု ထင်ရလေ၏။

ပိုလန် မာဇူကာအကကာ၍ မကြာမီ၌ ဘုရင် မင်းမြတ်၏ နောက်တော်ပါးတွင် အမြဲတစေ ခစားလိုက်ပါ ရသည့် တပ်ရေးဗိုလ်ချုပ်ကြီး ဗလရှေ့သည် ဘုရင်မင်းမြတ်  အပါးသို့ ရောက်လာကာ ပိုလန် ဂုဏ်သရေရှိ အမျိုးသမီး တစ်ဦးနှင့် စကားလက်ဆုံကျနေသော ဘုရင်မင်းမြတ်အနီး တွင် ရပ်လျက်ရှိခြင်းကို ဘိုးရစ်စ် မြင်လိုက်လေရာ တပ်ရေးချုပ် ဗလရှေ၏အပြုအမူသည် ရွှေနန်းတော်၏ ခစားရိုးအစဉ်အလာများနှင့် ညီညွတ်ခြင်း မရှိသည့်အတွက် ဆန်းလှချေ တကားဟု စိတ်ထဲတွင် အောက်မေ့လိုက်မိ သည်။ ပိုလန် အမျိုးသမီးနှင့် စကားပြောဆိုပြီးသည့်နောက်၌ `အလက်ဇန်း ဒရားဘုရင်သည် တပ်ရေးချုပ် ဗလရှေကို စူးစမ်းသောအကြည့်ဖြင့် ကြည့်တော်မူလိုက် သည်တွင် ကိစ္စအရေးတကြီး တွေ့ကြုံလာသောအခါများ၌ တပ်ရေးချုပ်ဗလရှ ဤသို့ ခစားတတ်ခြင်းကို သတိရလာသည့်အတွက် ပိုလန် အမျိုးသမီးဘက်သို့ ခေါင်းညွှတ်၍ နှုတ်ဆက်တော်မူပြီးနောက် တပ်ရေးချုပ် ဗလရှေ့ဘက်သို့ လှည့်လိုက်သည်။ တပ်ရေးချုပ် ဗလရှေ၏ လျှောက်တင် ချက်ကို ကြားနာပြီးသည့် ခဏချင်းအတွင်း၌ ဘုရင် ကေရာဇ်၏ မျက်နှာတော်တွင် အံ့ဩသော အမူအရာတို့ ရုတ်ချည်းပေါ်လာကြ၏။ ဘုရင်မင်းမြတ်သည် တပ်ရေး ချုပ်ဗလရှေကို လက်မောင်းမှ ဆွဲခေါ်ကာ ပွဲတက်ဆောင်

အပြင်ဘက်သို့”ထွက်တော်မူ လာခဲ့ရာ တစ်ဖက်တစ်ချက်မှ မင်းပရိသတ်များက ခုနစ်ကိုက်မျှ ကျယ်သည်အထိ တိမ်း ရှောင်လမ်းဖယ်၍ ပေးကြသည်ကိုပင် သတိထားတော် မမူချေ။ ဘုရင်မင်းမြတ်သည် တပ်ရေးချုပ် ဗလရှေ့နှင့်အတူ ရေးကြီးသုတ်ပျား ထွက်တော် မူသွားသည်ကို မြင်လိုက် သည့်အခါ၌ အလွန်အမင်း တုန်လှုပ်ချောက်ချားလျက် ရှိသော စစ်ဝန်ကြီး အာရတ်ချေ၏ မျက်နှာကို ဘိုးရစ်စ် မြင်လိုက်ရလေပြန်၏။ စစ်ဝန်ကြီး အာရတ်ချေသည် ဘုရင်မင်းမြတ်ကို လှမ်းကြည့်ပြီးနောက် ၎င်း၏ နီရဲသော နှာခေါင်းဖြင့် ချေဆတ်လိုက်လျက် ဘုရင်မင်းမြတ်က မိမိအား တစ်စုံတစ်ရာ မိန့်ကြားတော်မူလေ မည်လော ဟူသော မျှော်လင့်ချက်မျိုးဖြင့် လူကြားထဲမှ ထွက်၍ ရှေ့တော်မှောက်သို့ ရောက်လာကာ စုံရပ်ခစားလျက်ရှိလေ သည်။ (စစ်ဝန်ကြီး အာရတ်ချေသည် တပ်ရေးချုပ်ဗလ ရှေအား မနာလိုဖြစ်လျက်ရှိ၍ အရေးကြီးဟန် တူသော သတင်းတစ်ရပ်ကို မိမိမှ တစ်ဆင့်မဟုတ်ဘဲ ဘုရင်မင်း မြတ်၏ ရွှေနားတော်သို့ တိုက်ရိုက်ရောက်ရလေခြင်းဟူ၍ လည်း စိတ်ထဲတွင် မကျေမနပ် ဖြစ်လျက်ရှိဟန်ကို  ဘိုးရစ်စ် သတိပြုလိုက်မိသည်။) သို့သော်လည်း ဘုရင်မင်းမြတ်နှင့် တပ်ရေးချုပ် ဗလရှေတို့သည် မိမိတို့ရှေ့တွင် စုံရပ်နေသော စစ်ဝန်ကြီး အာရတ်နေ့ကို သတိမထားမိကြဘဲ မီးပုံးများ တထိန်ထိန် ထွန်းညှိထားသော ပန်းခုံဘက်သို့ ထွက်သွားကြလေရာ စစ်ဝန်ကြီးအာရတ်ချေသည် ခါးလွယ်ကို လက်ဖနောင့် ဖြင့် အုပ်ကိုင်လျက် ပတ်ဝန်းကျင်ကို တင်းမာသော မျက်နှာထားဖြင့် လှည့်ကြည့်လိုက်ပြီးနောက် အလှမ်းနှစ် ဆယ်ကွာလောက်မှနေ၍ လိုက်ပါသွားလေသည်။

ပိုလန် မာဇူကာအကကို ကလျက်ရှိစဉ် ဘိုးရစ်စ် မှာ တပ်ရေးချုပ် ဗလရှေသည် မည်မျှအရေးကြီးသော ကိစ္စကို လျှောက်တင်သည့်အတွက် ဘုရင်မင်းမြတ်ရာဇ ဣန္ဒြေပျက်သည်အထိ ဖြစ်ရလေသနည်း။ ထိုအခြင်းအရာ ကို သူများတကာ

ထက် ဦးဦးဖျားဖျားသိရန် မည်သို့ ကြံစည်ရမည်နည်းဟု တစ်ချိန်လုံး တွေးတော နေမိသည်။

ပိုလန်မာဇူကာ တီးကွက်တစ်မျိုး အပြောင်း၌ ဘိုးရစ်စ်သည် မြို့စားကတော် ကလေး ဟယ်လင်နားသို့ ကပ်၍ မိမိသည် မြို့စားကတော်ကလေး ပေါ့တော်ကာ နှင့် ခေတ္တ တွဲကဦးမည်ဖြစ်ကြောင်း၊ မြို့စားကတော်ကလေး ပေါ့တော်ကာသည် ပြင်ဘက်စင်္ကြံသို့ ထွက်သွားသည် ထင်ကြောင်း တီးတိုးပြောဆိုကာ ပန်းခုံဘက်သို့ ထွက် သော တံခါးဝဆီသို့ မှန်ကူကွက်ပုံဖော်ထားသော သစ်သား တုံးကလေးများ ခင်းထားသည့် ကြမ်းပြင်ပေါ်မှ ခပ်သုတ် သုတ် လျှောက်လာခဲ့သည်တွင် ပန်းခုံထဲမှ စင်္ကြံဘက်သို့ ပြန်လျှောက်လာကြသည့် ဘုရင်မင်းမြတ်နှင့် တပ်ရေးချုပ် ဗလရေ တို့ကို မြင်လိုက်သည့်အတွက် ကိုယ်ရှိန်သတ်၍ ရပ်နေလိုက်သည်။ ဘုရင်မင်းမြတ် နှင့် တပ်ရေးချုပ် ဗလရှေ့ တို့သည် တံခါးဝနားသို့ ရောက်လာကြ၏။ ဤတွင် ဘိုး ရစ်စ်မှာလည်း နောက်သို့ပြန်ဆုတ်ရန် အချိန်မရတော့ သဖြင့် တံခါးပေါင်တွင် ကပ်၍ ရပ်လျက်က ခေါင်းငုံ့ ခစားလျက် ရှိလေသည်။

ဘုရင်ဧကရာဇ်မင်းမြတ်သည် မချေမငံ ရိုင်းပျ စော်ကားခြင်း ခံရသူတစ်ဦး ကဲ့သို့ ပြင်းစွာတုန်လှုပ်လျက် ပြောဆိုနေသံကို ကြားလိုက်ရ၏။

"အိမ်း၊ သင်းတို့က စစ်ကြေညာခြင်းမပြုဘဲ ကျုပ် နယ်နိမိတ်သို့ ကျူးကျော် ထိပါးပြီ။ ကျုပ်နိုင်ငံတော်ထဲ၌ လက်နက်ကိုင် ရန်သူတစ်ဦးတစ်ယောက် ကျန်ရှိ နေသရွေ့ ကျုပ် ငြိမ်းချမ်းရေး မလုပ်ပြီ"

ဘိုးရစ်စ်၏ စိတ်ထဲ၌ကား ဘုန်းတော်ကြီးသော ဘုရားသည် ဤစကားများ ကို ဝမ်းသာအားရ မိန့်တော် မုခြင်းဖြစ်သည်ဟု ထင်မှတ်မိ၏။ ဘုန်းတော် ကြီးသော ဘုရားသည် မိမိ၏သဘောထားကို ထုတ်ဖော်ပြောဆိုလိုက် ရ

သည့်အတွက် ကျေနပ်အားရသွားသော်လည်း ဘိုးရစ်စ် ကြားသွားသည့်အတွက် မူကား ကျေနပ်တော်မူခြင်း ရှိဟန် မတော့ချေ။

"ဒီသတင်းကို မပေါက်ကြားစေနဲ့ဦး" ဘုန်းတော် ကြီးသော ဘုရားက မျက်မှောင်ကုတ်၍ မိန့်တော်မူ၏။

ဘုန်းတော်ကြီးသော ဘုရားသည် မိမိကို ရည်ရွယ် ၍ ပြောခြင်းဖြစ်ကြောင်း သိလိုက်သည့်အတွက် ဘိုးရစ်စ် သည် မျက်လုံးကိုမှိတ်ကာ ခေါင်းကို ဖြည်းညင်းစွာ ညိတ်ပြလိုက်သည်။ ဘုရင်ကေရာဇ်မင်းမြတ်သည် ပွဲတက် ဆောင်သို့ ပြန်၍ဝင် တော်မူလာကာ နောက်ထပ် နာရီ တစ်ဝက်မျှ စံတော်မူ၍ ယာယီတဲနန်းသို့ ပြန်ကြွ သွား လေသည်။

ဤသို့ဖြင့် နပိုလီယန်၏ ပြင်သစ်တပ်များ နီမင်ကို ဖြတ်ကျော်လာကြပြီ ဆို သည့်သတင်းကို တိုးရစ်စ်သည် ဦးဦးဖျားဖျား ကြားခဲ့လေသည်။ ဤသို့ ဦးဦးဖျားဖျား ကြားခဲ့ရသည့်အတွက်ကြောင့် မိမိသည် အခြားသူများ မသိသော နိုင်ငံတော်၏ လျှို့ဝှက်အပ်ရာများကို အမြဲတမ်း သိသူတစ်ဦးဖြစ်ကြောင်းဖြင့် အချို့သော အရေးကြီးသည့် ပုဂ္ဂိုလ်ကြီးများရှေ့တွင် ဂုဏ်ယူနိုင်ခဲ့ကာ ဤနည်း များဖြင့် ထိုပုဂ္ဂိုလ်များ၏ရှေ့တွင် အထင်ကြီးစရာ လူတစ်ယောက် ဖြစ်လာခဲ့လေ သည်။

ယခုကဲ့သို့ ဝီလနာမြို့တွင် တစ်လကြာမျှ စစ်ပြင် ခြင်းမရှိဘဲ မေ့မေ့လျော့ လျော့ နေကြချိန်၊ ကပွဲကြီး ကျင်းပလျက်ရှိချိန်၌ ပြင်သစ်တပ်များ နီမင်မြစ်ကို ဖြတ်ကူး လာပြီဟူသော သတင်းစကားသည် လွန်စွာထိတ်လန့်ဖွယ် သော အမင်္ဂလာသတင်းကြီး ဖြစ်လေသည်။ ဘုန်းတော် ကြီးသော ဘုရားသည် ထို အမင်္ဂလာသတင်းကို စတင် ကြားသိတော်မူသည့်အခါ၌ ဒေါသအမျက် ပြင်းစွာ ထွက် လျက် မိမိ၏စိတ်တွင် ခံစားရသမျှကို အပြည့်အစုံဖော်ပြ သော အထက်ပါ

စကားလုံးများကို ချက်ချင်းတွေ့ရှိကာ  ထုတ်ဖော်ပြောဆိုခြင်း ပြုလိုက်လေရာ ထို အချိန်မှစ၍ ဤစကားလုံးများသည် ထင်ရှားကျော်ကြား၍ လာခဲ့ကြ ခြင်း ဖြစ်လေသည်။ ထိုနေ့ည နာရီပြန်နှစ်ချက်တီးအချိန် ယာယီစံနန်းသို့ ပြန်ရောက်သည့်အခါတွင် ဘုရင်မင်းမြတ် သည် မိမိ၏အတွင်းဝန်ရှိမှုကော့ဖ်ကို ရှေ့တော်သို့ ဆင့် ခေါ်တော်မူ၍ တပ်များသို့ အမိန့်ပြန်တမ်းတစ်စောင်နှင့် စစ်သူကြီး မင်းသားကြီး ဆာလ်တီကော့ဖ်သို့ အမိန့်တော် ပြန်တမ်းတစ်စောင်ကို ချက်ချင်း ရေးသားစေ၏။ ရုရှား မြေပေါ်၌ လက်နက်ကိုင် ပြင်သစ်လူမျိုး တစ်ဦးတစ် ယောက် ရှိနေသမျှ မိမိသည် ငြိမ်းချမ်းရေး လုပ်မည် မဟုတ်ကြောင်းကိုလည်း ထည့်သွင်းဖော်ပြရန် မိန့်တော် မူလေသည်။

နောက်တစ်နေ့၌ အောက်ပါရာဇသံကို နပိုလီယန် ထံ ပေးပို့လိုက်လေသည်။

ကြားရောက်လိုက်သည် နောင်တော် ပြင်သစ် ရွှေနန်းသခင် ဘုရင်မင်းမြတ်။ ငါတို့ ညီနောင်နှစ်ဦး သဟာယ မဟာမိတ်အဖြစ် ဆက်ဆံ ရင်းနှီးကြွရာ၌ ငါ၏ဘက်မှ သစ္စာစောင့် သိ ရှိသေခြင်းပြုသော်လည်း နောင်တော်၏တပ် များသည် ရုရှားနယ်စပ်ကို ထိပါးကျူးကျော်လာ ကြချေပြီ။ ဤအကြောင်းကို ယမန်နေ့က ငါ ကြားရသည်။ ငါ၏နယ်မြေကို နောင်တော် ကျူးကျော်ထိပါးခြင်းမှာ ခိုင်လုံသော အကြောင်း မရှိ။ နောင်တော့်ထံသို့ စေလွှတ်ထားသည့် ငါ၏ သံတော်ကြီး မင်းသားကြီး ကူရာဂင်က နေပြည် တော်သို့ ပြန်ရန် နိုင်ငံကူး လက်မှတ် လျှောက်ထား တောင်းဆိုကြောင်း၊ ထိုသို့ ငါ့သံတော်ကြီးက နိုင်ငံကူး လက်မှတ် တောင်းဆိုချိန်မှစ၍ ငါနှင့် စစ်ပြုသော အခြေအနေသို့ ရောက်ပြီဟု နောင် တော် ယူဆလျက်ရှိကြောင်း ဖော်ပြထားသည့် ရွှေမြို့တော်ရှိ နောင်တော်၏ သံတော်ကြီး မြို့စား ကြီး လောရစ်စတန်ထံမှ အမှာစာချွန်လည်း ယခုပင် ငါ့လက်ဝယ် ရောက်ရှိသည်။ ငါ၏ သံ တော်ကြီးအား နိုင်ငံကူးလက်မှတ်

ထုတ်ပေးရန် နောင်တော်၏ နိုင်ငံခြားရေးဝန် နယ်စားကြီး ဘာဆာနိုက ငြင်းပယ်ရာ၌ တင်ပြသောအကြောင်း  လက်နက်ကိုင် ရန်သူတစ်ဦးတစ်ယောက် ကျန်ရှိနေသရွေ့ ကျပ် ငြိမ်းချမ်းရေး မလုပ်ပြီ”

ဘိုးရစ်စ်၏ စိတ်ထဲ၌ကား ဘုန်းတော်ကြီးသော ဘုရားသည် ဤစကားများကို ဝမ်းသာအားရ မိန့်တော် မူခြင်းဖြစ်သည်ဟု ထင်မှတ်မိ၏။ ဘုန်းတော်ကြီးသော ဘုရားသည် မိမိ၏သဘောထားကို ထုတ်ဖော်ပြောဆိုလိုက်သည့်အတွက် ကျေနပ်အားရသွားသော်လည်း ဘိုးရစ်စ် ကြာသွားသည့်အတွက် မူကား ကျေနပ်တော်မူခြင်း ရှိဟန် ဒီသတင်းကို မပေါက်ကြားစေနဲ့ဦး” ဘုန်းတော်ကြီးသော ဘုရားက မျက်မှောင်ကုတ်၍ မိန့်တော်မူ၏။

ဘုန်းတော်ကြီးသော ဘုရားသည် မိမိကို ရည်ရွယ် ၍ပြောခြင်းဖြစ်ကြောင်း သိလိုက်သည့်အတွက် ဘိုးရစ်စ် သည် မျက်လုံးကိုမှိတ်ကာ ခေါင်းကို ဖြည်းညင်းစွာ ညိတ်ပြလိုက်သည်။ ဘုရင်ကေရာဇ်မင်းမြတ်သည် ပွဲတက် ဆောင်သို့ ပြန်၍ဝင်တော်မူလာကာ နောက်ထပ် နာရီ တစ်ဝက်မျှ စံတော်မူ၍ ယာယီတဲနန်းသို့ ပြန်ကြွသွား လေသည်။

ဤသို့ဖြင့် နပိုလီယန်၏ ပြင်သစ်တပ်များ နီမင်ကို ဖြတ်ကျော်လာကြပြီ ဆိုသည့်သတင်းကို ဘိုးရစ်စ်သည် ဦးဦးဖျားဖျား ကြားခဲ့လေသည်။ ဤသို့ဦးဦးဖျားဖျား ကြားခဲ့ရသည့်အတွက်ကြောင့် မိမိသည် အခြားသူများ မသိသောနိုင်ငံတော်၏ လျှို့ဝှက်အပ်ရာများကို အမြဲတမ်း သိသူတစ်ဦးဖြစ်ကြောင်းဖြင့် အချို့သော အရေးကြီးသည့် ပုဂ္ဂိုလ်ကြီးများရှေ့တွင် ဂုဏ်ယူနိုင်ခဲ့ကာ ဤနည်းများဖြင့် ထိုပုဂ္ဂိုလ်များ၏ရှေ့တွင် အထင်ကြီးစရာ လူတစ်ယောက် ဖြစ်လာခဲ့လေသည်။

ယခုကဲ့သို့ ဝီလနာမြို့တွင် တစ်လကြာမျှ စစ်ပြင် ခြင်းမရှိဘဲ မေ့မေ့လျော့လျော့ နေကြချိန်၊ ကပွဲကြီး ကျင်းပလျက်ရှိချိန်၌ ပြင်သစ်တပ်များ နီမင်မြစ်ကို ဖြတ်ကူး လာပြီဟူသော သတင်းစကားသည် လွန်စွာထိတ်လန့်ဖွယ် သော အမင်္ဂလာသတင်းကြီး ဖြစ်လေသည်။ ဘုန်းတော် ကြီးသော ဘုရားသည် ထို အမင်္ဂလာသတင်းကို စတင် ကြားသိတော်မူသည့်အခါ၌ ဒေါသအမျက် ပြင်းစွာ ထွက် လျက် မိမိ၏စိတ်တွင် ခံစားရသမျှကို အပြည့်အစုံဖော်ပြ သော အထက်ပါ စကားလုံးများကို ချက်ချင်းတွေ့ရှိကာ ထုတ်ဖော်ပြောဆိုခြင်း ပြုလိုက်လေရာ ထို အချိန်မှစ၍ ဤစကားလုံးများသည် ထင်ရှားကျော်ကြား၍ လာခဲ့ကြ ခြင်း ဖြစ်လေသည်။ ထိုနေ့ည နာရီပြန်နှစ်ချက်တီးအချိန် ယာယီစံနန်းသို့ ပြန်ရောက်သည့်အခါ တွင် ဘုရင်မင်းမြတ် သည် မိမိ၏အတွင်းဝန်ရှိရကော့ဗ်ကို ရှေ့တော်သို့ ဆင့် ခေါ်တော်မူ၍ တပ်များသို့ အမိန့်ပြန်တမ်းတစ်စောင်နှင့် စစ်သူကြီး မင်းသားကြီး ဆာလ်တီကော့ဗ်သို့ အမိန့်တော် ပြန်တမ်းတစ်စောင်ကို ချက်ချင်း ရေးသားစေ၏။ ရုရှား မြေပေါ်၌ လက်နက်ကိုင် ပြင်သစ်လူမျိုး တစ်ဦးတစ် ယောက် ရှိနေသမျှ မိမိသည် ငြိမ်းချမ်းရေး လုပ်မည် မဟုတ်ကြောင်းကိုလည်း ထည့်သွင်းဖော်ပြရန် မိန့်တော် မူလေသည်။

နောက်တစ်နေ့၌ အောက်ပါရာဇသံကို နပိုလီယန် ထံ ပေးပို့လိုက်လေသည်။

ကြားရောက်လိုက်သည် နောင်တော် ပြင်သစ် ရွှေနန်းသခင် ဘုရင်မင်းမြတ်။ ငါတို့ ညီနောင်နှစ်ဦး သဟာယ မဟာမိတ်အဖြစ် ဆက်ဆံ ရင်းနှီးကြရာ၌ ငါ၏ဘက်မှ သစ္စာစောင့် သိ ရိုသေခြင်းပြုသော်လည်း နောင်တော်၏တပ် များသည် ရုရှားနယ်စပ်ကို ထိပါးကျူးကျော်လာ ကြချေပြီ။ ဤအကြောင်းကို ယမန်နေ့က ငါ ကြားရသည်။ ငါ၏ နယ်မြေကို နောင်တော် ကျူးကျော်ထိပါးခြင်းမှာ ခိုင်လုံသော အကြောင်း မရှိ။ နောင်တော့်ထံသို့ စေလွှတ်ထားသည့် ငါ၏

သံတော်ကြီး မင်းသားကြီး ကူရာဂင်က နေပြည် တော်သို့ ပြန်ရန် နိုင်ငံကူး လက်မှတ် လျှောက်ထား တောင်းဆိုကြောင်း၊ ထိုသို့ ငါ့သံတော်ကြီးက နိုင်ငံကူး လက်မှတ် တောင်းဆိုချိန်မှစ၍ ငါနှင့် စစ်ပြုသော အခြေအနေသို့ ရောက်ပြီဟု နောင် တော် ယူဆလျက်ရှိကြောင်း ဖော်ပြထားသည့် ရွှေမြို့တော်ရှိ နောင်တော်၏ သံတော်ကြီး မြို့စား ကြီး လောရစ်စတန်ထံမှ အမှာစာချွန်လည်း ယခုပင် ငါ့လက်ဝယ် ရောက်ရှိသည်။ ငါ၏ သံ တော်ကြီးအား နိုင်ငံကူးလက်မှတ် ထုတ်ပေးရန် နောင်တော်၏ နိုင်ငံခြားရေးဝန် နယ်စားကြီး ဘာဆာနိုက ငြင်းပယ်ရာ၌ တင်ပြသောအကြောင်း ပြချက်များသည်လည်း ခိုင်လုံခြင်းမရှိရုံမျှမက ဤသို့ တစ်ပြည့်တစ်ပြည် စစ်ခင်းကြရလောက် သော အကြောင်းများ မဟုတ်ဟု ငါထင်သည်။ အမှန်အားဖြင့် ငါ၏သံတော်ကြီးအား ဤတောင်း ဆိုချက်မျိုးကို တောင်းဆိုရန် အခွင့်အာဏာ အပ်နှင်းထားခြင်း မရှိ။ သို့မရှိကြောင်းကိုလည်း ငါ၏သံတော်ကြီးက ထုတ်ဖော်ဝန်ခံပြီး ဖြစ်သည်။ ငါ၏သံတော်ကြီးက ဤ တောင်းဆိုချက်ကို ပြု သည် ကြားလျှင်ကြားချင်း၊ ဤအပြုအမူမျိုးကို ငါလက်ခံ တော်မမူဟု ငါ၏သံတော်ကြီးကို မှာ ကြားပြီး ဖြစ်သည်။ ထိုမျှမက နောင်တော်၏ရွှေ နန်းတွင် ငါ၏သံတော်ကြီးအဖြစ် ဆက်လက် နေထိုင်ရန်လည်း အမိန့်စာချွန် ထုတ်ပြန်ပြီးဖြစ် သည်။ သို့စင်လျက် ငါ့နယ်မြေကို နောင်တော် ကျူးကျော်ထိပါးခြင်းကား ငါ့၌ တာဝန်မရှိပြီ။ ဤသို့သော အထင်လွဲမှုကြောင့် ငါတို့ နှစ်ပြည် ထောင် ဗိုလ်ပါရဲမက်တို့ သွေးချောင်းစီးစေလို သော ဆန္ဒမရှိရိုးမှန်၍၊ နောင်တော်၏ တပ်များကို ရုရှားမြေပေါ်မှ ဆုတ်ခွာပေးရန် သဘောတူက ပြီးခဲ့ သော ကိစ္စများကို ငါသင်ပုန်းချေမည်။ ထို အခါ၌ ငါတို့ညီနောင်နှစ်ဦး ချစ်ကြည် ကြ၍ သဟာယ မဟာမိတ်များဖြစ်လျက် ငါတို့နှစ်နိုင်ငံ လည်း မီးမသေ ရေမ နောက် ရွှေတစ်ပြားတည်း ကဲ့သို့ ရှိမည်။ သို့မဟုတ်ပါက ငါ့၌ တစ်စုံတစ်ရာ တာဝန်မရှိဘဲ အကြောင်းမဲ့ ပေါ်ပေါက်လာသော နောင်တော့်တပ်များ၏

ကျူးကျော်ထိပါးခြင်းကို တွန်းလှန်ရသည့် အခြေသို့ ငါရောက်ရတော့မည်။ ငါတို့မင်းကေရာဇ်နှစ်ပါး အမျက်ရှိ၍ ရန်စစ် ကြီးစွာ ဖြစ်သောကာလ ရဲမက်ဗိုလ်ပါတို့နှင့်တကွ ခပ်သိမ်းသော သတ္တဝါတို့ တောင်လဲရာ ပြက်ပြတ် ဘိသို့ ကြီးစွာသော ဘေးဘယ ရောက်ကြလိမ့် မည်။ ယခုအထိကား လူ့ဇာတ် လူ့အန္တယ်ကြီး ကို နောက်ထပ် ရန်စစ်ကြီးတစ်ခုမှ ကင်းဝေးစေ ရေးသည် နောင်တော်၏ အပေါ်၌သာ တည်သေး ကြောင်းကို သိစေအပ်သည် နောင်တော်မင်းမြတ်။ (ပုံ) ညီတော် အလက်ဇန်းဒရား ဘုရင်မင်းမြတ်။

# အခန်း ၄

ဇွန်လ ၁၄-ရက်နေ့ နံနက် နှစ်ချက်တီးအချိန်၌ အလက်ဇန်း ဒရား ဘုရင်မင်းမြတ်သည် တပ်ရေးချုပ် ဗလရေကို ရှေ့ တော်သို့ ဆင့်ခေါ်တော်မူ၍ နပိုလီယန်ထံပေးသည့် ရာဇသံကို ဖတ်ပြကာ ထိုရာဇသံကို ယူဆောင်လျက် ပြင်သစ်ကေရာဇ်မင်းထံ ကိုယ်တိုင် ဝင်ရောက်ဆက်သရန် အမိန့်တော် မှတ်လိုက်၏။ တပ်ရေးချုပ်ဗလရေအား ရာဇသံကို ပေးအပ်စဉ်၌လည်း ရုရှားမြေပေါ်တွင် လက်နက် ကိုင်ရန်သူတစ်စုံတစ်ယောက် ရှိနေသမျှ မိမိသည် ငြိမ်း ချမ်းရေး ဆွေးနွေးမည် မဟုတ်ကြောင်းဖြင့် ထပ်လောင်း မိန့်ကြားကာ ဤအကြောင်းကိုလည်း နပိုလီယန်အားလျှောက်တင်ရန် မှာကြားတော်မူလိုက်၏။ အလက်ဇန်း ဒရား ဘုရင်မင်းမြတ်သည် ဤစကားလုံးများကိုကား ရာသံထဲတွင် ထည့်သွင်း ဖော်ပြခြင်း မပြုလိုက်ချေ။ အကြောင်းမူကား ယခုကဲ့သို့ နှစ်ဦးနှစ်ဖက် ပြေငြိမ်းရန် နောက်ဆုံးအကြိမ် ကြိုးစားလျက်ရှိသည့်အချိန်တွင် ဤ စကားများကို သုံးနှုန်းလိုက်ခြင်းသည် မိမိအနေဖြင့် ဉာဏ် အမြော်အမြင်ကင်းမဲ့ရာ ရောက်ခြင်းသာ ဖြစ်လိမ့်မည်ကို ရာဇပရိယာယ် ကြွယ်ဝသူပီပီ သိမြင်သောကြောင့် ဖြစ်လေ သည်။ သို့ရာတွင်

နပိုလီယန်ထံသို့ ဤစကားလုံးများ အတိုင်း နှုတ်မှလျှောက်တင်ရန်ကိုကား ဗလ ရေကို အတိ အလင်း ညွှန်ကြားတော် မူလိုက်လေသည်။

တပ်ရေးချုပ်ဗလရေသည် ကော့ဆက်မြင်းတပ် ဗိုလ်နှစ်ဦးနှင့် ခရာကိုင် တပ်ဗိုလ်တစ်ဦးကို ခေါ်လျက် ဇွန်လ ၁၄-ရက်နေ့ နံနက်အကူး၌ စခန်းမှ ထွက်လာ ခဲ့ရာ ရုရှားနိုင်ငံဘက် နီမင်မြစ်ကမ်းပေါ်ရှိ ရိုင်ကွန်တီ ရွာကလေး တွင် အခြေစိုက် ထားသည့် ပြင်သစ်ရှေ့ပြေးကင်းစခန်းသို့ လင်းလတ်ချိန်တွင် ရောက်ရှိခဲ့လေ သည်။ ရှေ့ပြေးကင်း စခန်းသို့ အရောက်၌ ပြင်သစ်မြင်းတပ် ကင်းစောင့်များက တပ်ရေးချုပ် ဗလရေကို ရပ်တန့်စေသည်။

ကြက်သွေးရောင် စစ်ဝတ်စုံနှင့် မွေးပွသံပရာခွံ ဦးထုပ်တို့ကို ဝတ်ဆင်ထား သည့် ပြင်သစ် မြင်းတပ်အရာခံ ဗိုလ်ကလေးတစ်ဦးသည် ကင်းစခန်းအနီးသို့ ချဉ်းကပ်လာ သော တပ်ရေးချုပ် ဗလရှေ့ကို ရပ်တန့်ရန် အော်ဟစ်  အမိန့် ပေးလိုက်သည်။ တပ်ရေးချုပ် ဗလရေသည် ချက်ချင်း ပ်တန့်ခြင်း မပြုသေးဘဲ ဇက်ကိုဆွဲ၍ တစ်လှမ်းချင်း လာခဲ့၏။

ပြင်သစ်အရာခံဗိုလ်ကလေးသည် မျက်မှောင်ကုတ် ကာ ပြင်သခ်ဘာသာ ဖြင့် ဆဲရေးတိုင်းထွာခြင်းပြု၍ တပ် ရေးချုပ် ဗလရှေ၏ဘက်သို့ မြင်းကို ဦးတည် ပေးလိုက် လက် တည့်တည့်ကြီး စီးလာခဲ့ပြီးနောက် ခါးမှ ဓားလွယ် ကို လက်ဖြင့် ဆုပ်ကိုင်ထားရင်း အရပ်ခိုင်းသည်ကို မရပ် ခြင်းမှာ နားပင်း၍လောဟု ရုရှား ဗိုလ်ချုပ်ကို မချေမငံ ဆီးဟ်မေးမြန်းလိုက်၏။ တပ်ရေးချုပ် ဗလရှေ့က မည်သူ မည်ဝါဖြစ်ကြောင်းကို ထုတ်ဖော် ပြောဆိုလိုက် ည်။ ပြင်သစ် အရာခံဗိုလ်ကလေး သည် တပ်ရေးချုပ် ဗလရေကို အရေးမစိုက်ဟန်ဖြင့် ၎င်းတို့၏တပ်ရင်းကိစ္စ များ ကို သွေးသောက်များနှင့် ပြောဆိုလျက်ရှိလေသည်။ ဗလရှေသည် အမြင့်ဆုံးသော တန်ခိုးအရှိန်အစော်နှင့် အခွင့်အာဏာကို ရရှိသည့် တပ်ရေးချုပ်ရာထူး၌ အမှုထမ်း

သည်မှာ ကြာခဲ့ပြီဖြစ်၏။ လွန်ခဲ့သည့် သုံးနာရီခန့်က လည်း ဘုန်းတော်ကြီးလှ
သော ဘုရားကိုယ်တိုင်က အရေး တယူ ဆက်ဆံပြောဆိုခြင်းကို ခံခဲ့ရသူဖြစ်၏။
ထိုမျှမက မင်းမှုတော်ထမ်း သက်တမ်းတစ်လျှောက်၌ မိမိ၏ရာထူး ဌာနန္တရနှင့်
ထိုက်တန်သော ရိုသေလေးမြတ်ခြင်းကို ခံယူရရှိခဲ့သည့် ပုဂ္ဂိုလ်တစ်ဦးလည်း
ဖြစ်၏။ သို့စင်လျက် မိမိအပေါ်၌ ရန်သတ္တရုပြုရုံမျှမက မခန့်မညား မလေးမစား
ရိုင်းပျစော်ကားစွာ အစမ္မနည်းသုံး၍ ရပ်တန့်စေခြင်းမျိုး ကို မိမိတို့ပိုင်နက်ဖြစ်
သော ရုရှားနယ်မြေပေါ်တွင် တွေ့ နေ ရခြင်းကား ခံပြင်းစရာကောင်းလှဘိသည်
ဟု တွေးလျက် ရှိလေသည်။

နေလုံးကြီးသည် အရှေ့ဘက် တိမ်တိုက်များ အကြားမှ ထွက်ပြူစ ပြုခဲ့လေ
ပြီ။ နံနက်ခင်း လေပြည် ကလည်း နှင်းနံ့သင်းလျက် လတ်ဆတ်လှသည်။
စားကျက် သို့ ထွက်လာကြသော နွားမောင်းသံများကို ရွာလမ်းတစ် လျှောက်ဆီမှ
ကြားရ၏။ လယ်ကွင်းများအထက်၌ကား ရေမျက်နှာပြင်ပေါ်သို့ ရေပလုံကလေး
များ တစ်လုံးပြီး တခ်လုံး တက်လာသကဲ့သို့ မိုးယံထက်သို့ တက်လာသော
မိုးဆွေငှက်ကလေးများ၏ မြည်ကြူးသံတို့သည် စီစီညံလျက် ရှိ၏။ . တပ်ရေးချုပ်
ဗလရေသည်ပတ်ဝန်းကျင် ဩကာ သ လောက၏ရှုခင်းကို ငေးမောကာ ရွာထဲမှ
ထွက်လာ မည့် ပြင်သစ်တပ်မိုလ်တစ်ဦးကို စောင့်ဆိုင်းလျက်ရှိ၏။ တပ်ရေးချုပ်
ဗလရှေ၏နောက်တွင် ပါလာသည့် ရုရှား ကော့ဆက် မြင်းတပ်မိုလ်နှစ်ဦး၊ ခရာ
ကိုင် တပ်မိုလ်တစ်ဦး တို့သည် ပြင်သစ်မြင်းတပ်မိုလ်များနှင့် တစ်ဦးကိုတစ်ဦး
တိတ်ဆိတ်စွာ အကဲခတ်ကြည့်လျက် ရှိကြ၏။

ပြင်သစ် မြင်းတပ်မိုလ်မှူးကြီး တစ်ယောက်သည် ယခုမှ အိပ်ရာမှနိုးလာ
သည့် လက္ခဏာဖြင့် မြင်းတပ်မိုလ် ကလေးနှစ်ဦး လိုက်ပါလျက် လှပချောမွေ့
သော ဖောင်း ဝတ်ပြာရောင် မြင်းကြီးကိုစီးကာ ရွာမှ ထွက်လာလေသည်။

မြင်းတပ်ဗိုလ်မှူးကြီးသည် လည်းကောင်း၊ မြင်းတပ်ဗိုလ် ကလေးနှစ်ဦးသည် လည်းကောင်း၊ မြင်းကြီးများသည် လည်းကောင်း သပ်ရပ်ခန့်ညားလှပေ၏။

ထိုအချိန်ကား စစ်ဦးကာလဖြစ်လျက် တပ်ဗိုလ် တပ်သားအားလုံးသည် ငြိမ်းချမ်းရေးကာလ စစ်ဗျူဟာ သဘင် ခင်းကျင်းစဉ်ကဲ့သို့ စစ်ဝတ်စစ်စား အဆောင် အယောင် အခမ်းအနားတို့ဖြင့် သပ်ရပ်သန့်ရှင်းစွာ ရှိကြ ၏။ သို့ရာတွင် စစ်ဦးကာလမျိုး၌ ဖြစ်ပေါ်လေ့ရှိသည့် ဓမ္မတာအတိုင်း စစ်မာန်တက်ခြင်း၊ မြူးကြွခြင်း၊ စိတ်အား ထက်သန်ခြင်း စသည့် အရိပ်အရောင်များသည် ၎င်းတို့၏ စစ်ဝတ်စုံများပေါ်၌ ယှက်သန်းလျက် ရှိကြလေသည်။

ပြင်သစ် မြင်းတပ်ဗိုလ်မှူးကြီးသည် သမ်းဝေတော့ မည် ပြုပြီးမှ ချုပ်တည်းထားလိုက်သည်။ ပြင်သစ်မြင်းတပ် ဗိုလ်မှူးကြီးမှာ ယဉ်ကျေးဖွယ်ရာခြင်းရှိလျက် တပ်ရေးချုပ် ဗလရှေ၏ အရေးတကြီး လာရောက်ခြင်းကိုလည်း ကောင်း စွာ နားလည်သူဖြစ်၏။ ပြင်သစ် မြင်းတပ်ဗိုလ်မှူးကြီးသည် တပ်ရေးချုပ် ဗလရှေ့ကို ရှေ့ပြေးကင်းတပ်သားများရှေ့မှ ဖြတ်၍ ရှေ့ပြေးကင်းစခန်းနောက်ရှိ ပြင်သစ် စစ်ကြောင်း ထဲသို့ ခေါ်ဆောင်လာခဲ့လျက် ပြင်သစ် ဧကရာဇ်မင်းမြတ် မှာ ဤနေရာမှ များစွာ မကွာဝေးလှသော တစ်နေရာတွင် စံမြန်းလျက်ရှိသည်ဟု မိမိ ယူဆကြောင်း၊ ထို့ကြောင့် ပြင်သစ်ဘုရင်မင်းမြတ်ထံ ဝင်ရောက်ခစားလိုသော တပ် ရေးချုပ်၏ ဆန္ဒသည်လည်း မကြာမီ ပြီးမြောက်ဖွယ်ရှိ ကြောင်းဖြင့် ပြောဆိုခြင်း ပြုလေသည်။ “

ဤသို့ဖြင့် တပ်ရေးချုပ် ဗလနှင့် ပြင်သစ်မြင်း  တပ် ဗိုလ်မှူးကြီးတို့အဖွဲ့သည် ရိုင်ကွန်တီရွာထဲမှ ဖြတ်၍ လာခဲ့ကြ၏။ လှန်ကြိုးများဖြင့် လှန်ထားသော ပြင်သစ် မြင်းတပ်မှ မြင်းများကိုလည်းကောင်း၊ မိမိတို့၏ မြင်းတပ် ဗိုလ်မှူးကြီးအား အရိုအသေပေးရင်း တပ်ရေးဗိုလ်ချုပ် ဗလရှေ့နှင့်အဖွဲ့ ၏ ရုရှားစစ်ဝတ်စုံများ

ကို အထူးအဆန်း သဖွယ် ကြည့်လျက်ရှိကြသည့် ကင်းစောင့်တပ်သား များကို လည်းကောင်း ဖြတ်ကျော်ခဲ့လျက် ရွာ၏အခြားဘက် အစွန်းသို့ ရောက်လာခဲ့ကြ သည်။ ပြင်သစ် မြင်းတပ်ဗိုလ်မှူး ကြီးက တပ်မကြီးကို ဦးစီးကွပ်ကဲသည့် တပ်မ ကြီးမှူးမှာ ဤရွာမှ ငါးရာတွင်းခန့် ကွာဝေးသော စခန်းတွင်ရှိကြောင်း၊ တပ်မကြီး မှူးက တပ်ရေးချုပ် ဗလအား ကြိုဆိုကာ လိုရာခရီးသို့ လိုက်ပို့လိမ့်မည် ဖြစ်ကြောင်းဖြင့် ပြောပြခြင်း ပြု၏။

ယခုအချိန်၌ နေမင်းမှာ လွတ်လွတ်ကျွတ်ကျွတ် ကြီး ထွက်ပေါ်လာပြီဖြစ် လျက် နေခြည်များသည် တောက်ပ စိမ်းစိုသော တောအုပ်များပေါ်တွင် ဖြာကျ လျက်ရှိလေ သည်။

- ပြင်သစ် မြင်းတပ်ဗိုလ်မှူးကြီးနှင့် တပ်ရေးချုပ် ဗလဆူတို့အဖွဲ့ သည် တောင်ကမူကလေးတစ်ခုပေါ်သို့ တက်လာခဲ့ကြ၍ တောထမင်းဆိုင်ကလေးတစ်ခု ကို လွန် လာပြီးသည့် တစ်ခဏ၌ မိမိတို့ထံသို့ ရေးရှုလာနေသော မြင်းကိုယ်စီနှင့် လူတစ်စုကို မြင်လိုက်ရ၏။ မြင်းကိုယ်စီ နှင့် လာသူတစ်သိုက်၏ ရှေ့ဆုံး၌ ဦးထုပ် တွင် ငှက်တောင် များကို အပြည့်စိုက်ထားကာ နက်မှောင်ရှည်လျားသော ဆံပင် များ ပခုံးပေါ်ထိ ပျံ့ဝဲလျက်ရှိသည့် အရပ်ခပ်မြင့်မြင့် လူတစ်ယောက်သည် နေရောင်ထဲတွင် ပြိုးပြိုးပြက်ပြက် အရောင်တလက်လက် ထွက်လျက်ရှိသော တင်ရမ်းကကြိုး တန်ဆာတို့ ဆင်ယင်ထားသည့် အုန်းခွံနက်ရောင် မြင်းကြီး တစ် ကောင်ကို စီးလာ၏။ ထိုလူသည် အနီရောင်ဝတ်ရုံ ဖားဖားကြီးကို ခြုံထားလျက် ခြေနင်းကွင်းနင်းထားသည့် ခြေထောက်များကို ပြင်သစ်ဟန်ပါပါဖြင့် ရှေ့သို့ ဆန့်တန်း ထားကာ တပ်ရေးချုပ် ဗလရှေ့ထံသို့ မြင်းကို အသားကျ စီးလာလေရာ ၎င်း၏ဦးထုပ်မှငှက်တောင်များသည် လှုပ် ယမ်းလျက်ရှိ၍ ဝတ်ဆင်ထားသည့် ရတနာများနှင့် ရွှေစ လွယ်ကြိုးသည် ဇွန်လ၏တောက်ပသော နေရောင်ထဲတွင်

တဝင်းဝင်း တလျှပ်လျှပ် တောက်လျက်ရှိကြလေသည်။  လက်ဝတ်တန်ဆာများ၊ ငှက်တောင်များ၊ ပုလဲ သွယ်များနှင့် ရွှေချည်ထိုး ဝတ်ရုံကြီးစသည်တို့ကို ဝတ်ဆင်လျက် မိမိထံသို့ ဇာတ်မင်းသားဟန် လေးနက်တင်းမာသော မျက်နှာထားဖြင့် အသားကျစီး၍လာသော ထိုမြင်းစီး ယောကျ်ားသည် တပ်ရေးချုပ် ဗလရေနှင့် မြင်းနှစ်လျား အကွာသို့ ရောက်လာသည်၌ ပြင်သစ်မြင်းတပ်ဗိုလ်မှူးကြီး ဂျူလနာက တပ်ရေးချုပ် ဗလရေအနီးသို့ ကပ်ကာ ထို သူမှာ "နေပဲပြည် ဘုရင်မင်းမြတ်" ဖြစ်ကြောင်း ရိုသေစွာ ပြောဆိုလိုက်၏။ "နေပဲဘုရင်" ဟု အခေါ်ခံရသူကား အခြားသူမဟုတ်။ ပြင်သစ်ဗိုလ်ချုပ် မူးရတ်ပေတည်း။ မူးရတ်သည် မည်သို့မည်ပုံ နေပဲပြည်၏ ဘုရင်ဖြစ်လာသည် ဟု မသိရသော်လည်း နေပဲပြည်၏ ဘုရင်မင်းမြတ်အဖြစ် တန်ခိုးထွားလျက်ရှိကာ ၎င်းကိုယ်တိုင်ကလည်း မိမိသည် မင်းစဉ်မင်းဆက် ဆင်းသက်လာသော နေပဲပြည်၏နန်းစဉ် နန်းရိုး ဘုရင်တစ်ဆူသဖွယ် ထင်မှတ်လျက်ရှိလေသည်။ ထို့ကြောင့်လည်း မူးရတ်သည် ခါတိုင်းထက် လေးနက် တင်းမာသော မျက်နှာထားနှင့်တကွ ခါတိုင်းထက် အရေး ကြီးသော အမူအရာကို ဆောင်ထားခြင်းဖြစ်လေသည်။ မူးရတ်သည် မိမိကိုယ်ကို နန်းစဉ်နန်းဆက် ဆင်းသက်လာ သော နေပဲပြည်၏ဘုရင်ဟု ယူဆသည့်နေရာ၌ မည်မျှ လောက် ဘဝင်မြင့်လျက် ရှိသနည်းဟူမူ နေ)မှ စစ်မြေပြင် သို့ ထွက်ခွာခါနီးတွင် အီတလီမြို့သူမြို့သားများအား လမ်းတစ်ဖက်တစ်ချက် တန်းစီရပ်စေလျက် "ဘုရင်မင်း မြတ် သက်တော်ရာကျော် ရှည်ပါစေ"ဟု ကောင်းချီးသြဘာ ပေးစေရန် စီမံသည်အထိ ဖြစ်လာခဲ့လေသည်။ မိမိ၏ ဇနီးနှင့်အတူ မြို့မှအထွက် ဤသို့ အီတလီမြို့သူမြို့သား များက ကောင်းချီးသြဘာ ပေးကြသောအခါ၌ကား မူးရတ် ၏ ဘဝင်ခိုက်ခြင်း၊ ပီတိလွှမ်းခြင်းများသည် ဆိုစရာ မရှိတော့ပြီ။ မူးရတ်သည် ကောင်းချီးသြဘာပေးသံများကို ကြားသောအခါတွင် ဇနီးသည်ဘက်သို့ လှည့်လျက် "အိမ်း၊ သနားစရာပေပ်။ ငါကိုယ်တော်မြတ် စစ်မြေပြင်ကို ချီတက်တော်မူ

ရင် အဖမဲ့သား ရေနည်းငါးပမာ ခိုကိုးရာမဲ့ ကျန်ခဲ့ကြရှာပေတော့မယ်” ဟူ၍ပင် မိန့်မြွက်တော်မူသော ဟူသတတ်။

မူးရတ်သည် မိမိကိုယ်မိမိ နေပဲပြည်၏ဘုရင်ဟု ဘဝင်မြင့်လျက် ရှိသည် ဖြစ်၍ မိမိစစ်မြေသို့ ထွက်လာခဲ့ ခြင်းကြောင့် ယခုအချိန်၌ သစ္စာတော်ခံ အီတလီ လူမျိုး တို့သည် ကြီးစွာ ယူကျုံးမရဖြစ်လျက် ရှိကြချိမ့်မည်ဟု အထင်ရောက်ကာ အီတလီပြည်သားတို့အား မဟာသနား ကရုဏာဖြစ်လျက် ရှိလေသည်။ သို့ရာတွင် ပိုလန်ပြည် ဒန်းဇစ်မြို့၌ နပိုလီယန်နှင့် နောက်ဆုံးတွေ့ခဲ့၍ “ယောက်ဖ တော်၊ သင့်အား နေပဲပြည်၏ ဘုရင်အဖြစ် ငါ ခန့်အပ် တော်မူသည်။ သို့ရာတွင် သင်၏နည်းအတိုင်း အုပ်ချုပ်ခြင်း မပြုမူ၍ ငါ၏ နည်းအတိုင်းသာ အုပ်ချုပ် လေ”ဟုဋင်း၏ ကြီးမြတ်သော ရွှေယောက်ဖတော် နပိုလီယန်က အမိန့် တော်မြတ် ချမှတ်ခဲ့ပြီးသည့် နောက်တွင်ကား မူးရတ်မှာ ရှင်ဘုရင်လုပ်ရခြင်းကို စိတ်ပျက် လျက် ရှိလေပြီ။ ယခု နပိုလီယန်က စစ်မှုထမ်းရန် ဆင့်ခေါ်သော အခါတွင်မူ မူး ရတ်သည် သူတစ်ပါးခိုင်းရာကို လုပ်ရသော ရှင်ဘုရင် အဖြစ်ကို စွန့်၍ မိမိ ကျွမ်းကျင်သော စစ်တိုက်ခြင်းအမှုကို ပြုရတော့အံ့ဟု များစွာ အားတက် ရွှင်လန်း ခြင်းဖြစ်လျက် အသွေးကျလေ့ အဖိုးထိုက်ပေ့ဆိုသော အဝတ်တန်ဆာ ဘယက်ဒွါ ဒရာများကို ဝတ်ဆင်ကာ ပိုလန် စစ်မြေပြင်သို့ ဒုန်းစိုင်း၍ ရောက်လာခဲ့ပေရာ ပမာ ဆိုရ သော် မူးရတ်မှာ လှည်းတွင် တပ်မောင်းသောအခါ လှည်းထမ်းပိုးကြားထဲ၌ အနေရခက်လျက်ရှိရာမှ ကကြိုး တန်ဆာ ကောင်းစွာ ဆင်ယင်ပေးလိုက် သောအခါတွင် မြူးကြွလာသည့်၊ အစာ ရေစာဝလင်စွာ စားရသော်လည်း အလွန်အမင်း ဆူဖြိုးခြင်း မရှိသေးသော မြင်းကြီးတစ်ကောင်နှင့်ပင် တူသေးတော့ သည်။ သို့ရာတွင် မည်သည့် အရပ်သို့သွား၍ မည်သည့် အကြောင်းကြောင့် စစ်တိုက်ရမည် ဆိုခြင်းကိုကား မူးရတ် မသိရှာချေ။

တပ်ရေးချုပ် ဗလရှေ့ကို မြင်သည်၌ မူးရတ်သည် ပခုံးစွန်းထိ ဝဲကျသော ဆံရှည်တို့ဖုံးလျက်ရှိသည့် ခေါင်း ကို ကြီးစွာသော ရာဇဣလေဖြင့် မော့ထားလိုက်ပြီး ပြင်သစ် ဗိုလ်မှူးကြီးအား လှောက်တင်ဖွယ် မည်သို့ရှိ သနည်းဟူသော အကြည့်မျိုးဖြင့် ကြည့်လျက်ရှိ၏။ ပြင်သစ် မြင်းတပ်ဗိုလ်မှူးကြီး ဂျူလနာက တပ်ရေးချုပ် ဗလရေ ရာဇတမန်အဖြစ် ရောက်ရှိလာကြောင်း ရိုသေလေးမြတ်စွာ လျှောက်တင်ခြင်း ပြုသည်။ (ပြင်သစ် ဗိုလ်မှူးကြီးမှာ တပ်ရေးချုပ် ဗလရှေ၏ နာမည်ကို ပီသအောင် မခေါ်တတ် ချေ။)

"အိမ်း၊ တပ်ရေးချုပ်ကြီး ဗလရှေ့မှတ်တယ်ဗျား" မူးရတ်က (မိမိ၌ ပြင်သစ် ဗိုလ်မှူးကြီး ရိုသေခံ့ညားလောက် သော ရာဇဣလေရှိပြီဟု ကျေနပ်လျက်ရှိရာက) ပြောလိုက် ၏။ "တပ်ရေးဗိုလ်ချုပ်ကြီးနဲ့ တွေ့ရလို့ ဝမ်းမြောက်တော် မူပေတယ် ဗျ"

မူးရတ်က မိမိရွှေဖဝါးတော်အောက်သို့ ဝင်ရောက် ခိုလှုံသူတစ်ဦးအား ဘုရင်တစ်ပါးက မိန့်ကြားသည့် လေ သံမျိုးဖြင့် ဆို၏။

သို့ရာတွင် ဘုရင်မူးရတ်သည် စကားကို ခပ်ကျယ် ကျယ် ခပ်မြန်မြန် ပြောစပြုလာသည်နှင့် တစ်ပြိုင်နက် ၎င်း၏ ရာဇဂုဏ်၊ ရာဇဣလေတို့သည် ပွဲစပြုကာ ၎င်းကို ချက်ချင်း စွန့်ခွာထွက်ပြေးကြလေပြီ။ မူးရတ်ကား ဤ အခြင်းအရာကို သတိပြုမိသေးခြင်း မရှိဘဲ ကျယ်လောင် စွာ ဆက်လက် ပြောဆိုလျက်ရှိလေရာ နောက်ဆုံး၌ ဖက်လှဲတကင်း ရင်းရင်းနှီးနှီး ပြောတတ်သော ၎င်း၏ ပင်ကို အသံသို့ ရောက်မှန်းမသိ ရောက်လာခဲ့လေပြီ။ မူးရတ်သည် တပ်ရေးချုပ် ဗလဆူစီးလာသော မြင်း၏ မြုပန်းကို လက်ဖြင့် ပွတ်လိုက်သည်။

"ဘယ့်နှယ်လဲ တပ်ရေးဗိုလ်ချုပ်ကြီးရ၊ ကျုပ်တို့လဲ အပျက်အပျက်နဲ့ စစ်ပြုတဲ့ အခြေအနေကို ရောက်ကြပြီ ဗျ" မူးရတ်က ဖြစ်ပျက်လျက်ရှိသော အခြေအနေ

များကို မိမိတားဆီးခြင်းငှာ မစွမ်းသည့်အတွက် ဝမ်းပန်းတနည်း ဖြစ်လျက်ရှိသည့် အသံမျိုးဖြင့် ပြောလိုက်သည်။

"မှန်လှပါ ဘုရင်မင်းမြတ်၊ ကျွန်တော်၏ အရှင် ဘုန်းတော်ကြီးသော အလက်ဇန်းဒရား ဘုရင်မင်းမြတ် သည်လည်း စစ်ကို မလိုလားပါ။ ဘုရင်မင်းမြတ် သိတော် မူသည့်အတိုင်း"

တပ်ရေးချုပ် ဗလရေသည် ရှင်ဘုရင်ဘွဲ့ ကို ငမ်း ငမ်းတက် ဖြစ်နေသူတစ်ဦး နှင့် စကားပြောဆိုရာတွင် ရှောင်လွှဲမရတော့သည့်အတွက် "ဘုရင်မင်းမြတ်" ဟူသော စကားလုံးကို အခွင့်သင့်တိုင်း မိုးမွှန်အောင် သုံးစွဲပြောဆို လျက်ရှိသည်။

မူရတ်၏မျက်နှာကား သည်းခြေကြိုက်စကားလုံး ကို ကြားလိုက်ရသည်၌ မှို ရသော မျက်နှာကဲ့သို့ ဝင်းထိန်' လျက်ရှိလေပြီ။ သို့ရာတွင် "လောကေ-လောက၌၊ ရာ နော-မင်းတို့မည်သည်၊ ပတ္တာနုရူပကံ-အရေးအခွင့် ရောက်  သည်နှင့် လျော် သော ဝါကျစကားကို၊ ဇာနာတိ-သိရာ၏။ ကိစ္စာနီ-ပြုဖွယ်ကိစ္စဟူသမျှကို၊ သဟ သာ-အဆာ တလျင်၊ ကရောတိ-ပြုရာ၏"ဟူသော ရာဇောဝါဒ ကျမ်း ထွက်စကား နှင့်အညီ မိမိသည်လည်း ဘုရင်တစ်ပါး၊ သဟာယမဟာမိတ် တစ်ဦးအနေဖြင့် အလက်ဇန်းဒရား ဘုရင်၏ ရာဇတမန်နှင့် တိုင်းရေးပြည်ရာတို့ကို နှီးနှော ဆွေးနွေးမှ လျော်ချိမ့်မည်ဟု မူရတ်ယူဆသည်။ ထို့ကြောင့် မူးရတ်သည် မြင်းပေါ် မှဆင်း၍ နောက်လိုက်နောက်ပါ အခြွေအရံတို့ကို သင့်တင့်လျောက်ပတ်သော နေရာတွင် ခစားစေပြီးသော် ခေါက်တုံ့ခေါက်ပြန် လျှောက်လျက် ဝိသေသထူး သော စကားမျိုးကို မည်သို့ဆိုရအံ့နည်းဟု ကြံစည်စိတ်ကူးလျက် ရှိ၏။ ထို့နောက် ရုရှားဘုရင်မင်း မြတ်က ပြင်သစ်တပ်များကို ပရပ်ရှားနိုင်ငံမှ ရုပ်သိမ်း ရန် တောင်း ဆိုခြင်း၊ အထူးသဖြင့် တောင်းဆိုချက်ကို လူသိရှင်ကြား ကြေညာခြင်း စသည်

တို့သည် ပြင်သစ်နိုင်ငံ တော်ကြီး၏ ဂုဏ်သိက္ခာကို ထိခိုက်စေကြောင်း၊ ထို့ကြောင့် ဇကေရာ့ဇ်ဘုရင် နပိုလီယန် အမျက်တော်ရှိကြောင်းဖြင့် ပြောဆိုခြင်း ပြုလေသည်။

တပ်ရေးချုပ် ဗလရေကလည်း ဤတောင်းဆိုချက် ၌ အမျက်ရှိစရာ မချေမ ငံ စကားတစ်စုံတစ်ရာ မပါကြောင်း ဖြင့် ပြန်၍ပြောဆိုသည်။ အဘယ်ကြောင့်ဆို သော်…။သို့ရာ တွင် မူးရတ်က ကြားဖြတ်လျက်

”ဒီလိုဖြင့် ဘုရင်ဇကေရာ့ဇ် အလက်ဇန်းဒရားဟာ ကျူးကျော်ရန်စသူ မဟုတ် ဘူးလို့ တပ်ရေးချုပ်ကြီးက ဆိုလိုပေသပေါ့”ဟု ခပ်လှောင်လှောင်ပြုံး၍ မေးလိုက် သည်။

တပ်ရေးချုပ် ဗလရေကလည်း ဤစစ်ကို စတင်သူ မှာ နပိုလီယန် မင်း ဇကေရာ့ဇ်သာ ဖြစ်သည်ဟု အဘယ့် ကြောင့် ယူဆရကြောင်းကို ရှင်းလင်းပြောဆို ပြန်သည်။

“ကဲ၊ တပ်ရေးချုပ်ကြီး” မူးရတ်က ကြားဝင်၍ ပြောပြန်၏။ “ဤကိစ္စမှာ သူ ကျူးကျော်သည်၊ ငါ ကျူးကျော်သည်လို့ ကျုပ်တို့ချင်း အငြင်းထွက်နေရုံနဲ့တော့ အရေးတော်ပြီးစီးမယ် မဟုတ်ပေဘူးဗျ။ ဒီကိစ္စကို အရှင် ဇကေရာ့ဇ်နှစ်ပါးတို့ ကိုယ်တိုင် စီမံဖြေရှင်းမှသာ ပြီးပေ လိမ့်မယ်။ ကျုပ်သဘောအရဆိုရင်တော့ ကျုပ် တို့ အလို မဟုတ်ဘဲနဲ့ ပေါ်ပေါက်လာတဲ့စစ်ကို မြန်နိုင်သမျှ မြန် မြန်သာ ပြီးစေ ချင်တာပဲ”

မူရတ်က သခင်နှစ်ပါး ရန်စစ်ဖြစ်ကြသော်ငြား လည်း ကျွန်တော်မျိုး အချင်းချင်းကား မီးမသေ ရေမနောက် ရွှေတစ်ပြားတည်းကဲ့သို့ နေလိုသော ဆန္ဒရှိ သည့် ကျေးတော် မျိုး ကျွန်တော်မျိုး၏ လေသံမျိုးဖြင့် ပြောသည်။

ထို့နောက် မူးရတ်သည် ရုရှားပြည့်ရှင် ဧကရာဇ်၏ နောင်တော်အိမ်ရှေ့ ဥပရာဇာမင်းသားကြီး၏ ကျန်းမာရေး ကို မေးမြန်းစုံစမ်းပြီးနောက် မိမိနှင့် အိမ်ရှေ့ ဥပရာဇာ မင်းသားကြီးတို့ နေပဲပြည်တွင် ပျော်ရွှင်စွာ နေထိုင်ခဲ့ပုံ များကို ပြန် ပြောင်း ပြောဆိုလျက်ရှိ၏။ တစ်ဖန် မင်း တို့ သိမ်းဆည်းအပ်သော ရာဇဣန္ဒြေကို ချက်ချင်း သတိ ရသွားပြန်ရကား ဣန္ဒြေဆည်လိုက်လျက် ရာဇဘိသေက ခံစဉ်က ဟန်မျိုးဖြင့် မတ်တတ်ရပ်ရာမှ လက်ယာလက်ကို ဝှေ့ယမ်း၍

”ကဲ၊ တပ်ရေးချုပ်ကြီး၊ တပ်ရေးချုပ်ကြီးကို ကျုပ် တာရှည်ဆိုင်းငံ့ထားခြင်း မပြုလိုပေဘူး။ တပ်ရေး ချုပ်ကြီးရဲ့ အရေးကိစ္စ အောင်မြင်ပါစေလို့ ဆုတောင်း ပါ တယ်”ဟု ဆိုကာ အနီရောင် ရွှေချည်ထိုး ဝတ်လုံ၊ လှုပ်ယမ်းလျက်ရှိသော ငှက်တောင်များ၊ ပြုံးပြီးပြောင် ပြောင် အရောင်ထွက်လျက်ရှိသော လက်ဝတ် တန်ဆာများ ကို မြင်ရသူတို့ အာရုံပြုစေလောက်အောင် ဟန်ပြလျက် သင့်တင့် လျောက်ပတ်သော အရပ်မှ ခစားလျက်ရှိသည့် အခြွေအရံများထံသို့ ပြန်သွားလေ သည်။

မူးရတ်၏စကားအရ မကြာခင် နပိုလီယန် ဧကရာဇ်နှင့် တွေ့ရတော့မည်ဟု ယူဆလျက် တပ်ရေးချုပ် ဗလရေလည်း မြင်းကို ဆက်စီးခဲ့၏။ သို့ရာတွင် နောက် ထပ် ရွာတစ်ရွာသို့ ရောက်သည့်အခါတွင်မူကား နပိုလီယန် ဧကရာဇ်နှင့် တွေ့ရ မည့်အစား ရှေ့ကြောင်းချီတပ်ဦး ကင်းတပ်များ၏ တားဆီးခြင်းကို ခံရသကဲ့သို့ ပြင်သစ် စစ်သူကြီး ဒါဗောက်၏ ခြေလျင်တပ်ဖွဲ့ ကင်းစောင့်များ၏ တားဆီးခြင်း ကို ခံရပြန်လေသည်။ တပ်ဖွဲ့၏တပ်ရေး ဗိုလ်သည် တပ်ရေးချုပ် ဗလရှေကို ပြင် သစ်စစ်သူကြီး ဒါဗောက် စခန်းချလျက်ရှိသည့် ရွာသို့ ခေါ်ဆောင်သွား လေသည်။

# အခန်း ၅

စစ်ဝန်ကြီး အာရတ်ချေသည် ရုရှားဘုရင် အလက်ဇန်းဒရား ၏ လက်ရုံးကြီး တစ်ဆူကြီး ဖြစ်သကဲ့သို့ စစ်သူကြီး ဒါဗောက်သည်လည်း နပိုလီယန်၏ လက်ရုံး ကြီးဖြစ်လေ သည်။ ပြင်သစ် စစ်သူကြီးဒါယောက်သည် ရုရှားစစ်ဝန်ကြီး အာရတ် ချေကဲ့သို့ သတ္တိကြောင်သူတစ်ဦး မဟုတ်သော် လည်း တိကျသေချာခြင်း၊ ရက်စက်ကြမ်းကြုတ်ခြင်း၊ မိမိ၏ အရှင်ဧကရာဇ်အား သစ္စာရှိကြောင်းကို ပြ ရာတွင် အောက်လက်ငယ်သားများအား ရက်စက်ကြမ်းကြုတ်စွာ နှိပ်စက်ကလူ ပြုသည့်နည်းဖြင့်သာ ပြတတ်ခြင်း စသည်တို့ ၌ကား အာရတ်နေ့နှင့် ယိုးစွဲလိုက်သူ ဖြစ်လေသည်။

သဘာဝ၏ စက်ယန္တရားကြီးထဲ၌ ဝံပုလွေကဲ့သို့ သော တိရစ္ဆာန်မျိုးသည် လိုအပ်သကဲ့သို့၊ အစိုးရ စက် ယန္တရားကြီးထဲ၌ အာရတ်ချေလို စစ်သူကြီး၊ ဒါ ဗောက် လို ရက်စက်ကြမ်းကြုတ်သော ပုဂ္ဂိုလ်မျိုးသည် လိုအပ်ပေ သည်။ ရှိလည်း ရှိကြသည်သာ ဖြစ်လေသည်။ ထိုသို့ သော ပုဂ္ဂိုလ်များသည် နိုင်ငံ၏ဦးစီးဦးကိုင် ပုဂ္ဂိုလ် စသည် တို့နှင့် နီးကပ်ရင်းနှီးစွာ ဆက်ဆံရသော ရာထူးဌာနန္တ ရ ကြီးများ နှင့် လားလားမျှ လျော်ကန် ထိုက်တန်ခြင်းမရှိ စေကာမူ ထိုရာထူးများတွင် ရောက် ရှိနေတတ်ကြကာ ဘုရင်ငယ်တစ်ဆူသဖွယ်၊ ရုံးတစ်လုံး ခေါးတစ်စင်းဖြင့် တန်ခိုး ထွားကြမြဲ ဖြစ်လေသည်။ ဤကား ရှောင်လွှဲမရ သော နိယာမတရားဟုပင် ဆိုရ တော့မည် ဖြစ်လေသည်။ လက်ပစ်ဗုံးကိုင် ရဲမက်တစ်ယောက်၏ မုတ်ဆိတ်မွေး တစ်ပြုံလုံးကို ကိုယ်တိုင်ဆွဲနုတ်ခဲ့သော်လည်း ဘေး အန္တရာယ်ကို ရင်ဆိုင်ရဲသော သတ္တိဟူ၍ နည်းနည်းကလေး မျှ မရှိရုံမက ကျမ်းတတ် စာတတ်လည်း မဟုတ်၊ ထီးထဲ နန်းထဲတွင် ကြီးပြင်းလာသူတစ်ယောက်လည်း မဟုတ် သည့် အာရတ်ချေ လို လူမျိုးတစ်ယောက်သည် သူရသတ္တိ အရာတွင် လည်းကောင်း၊ အားနည်းသူကို ကြင်နာသနား ခြင်းအရာတွင် လည်းကောင်း၊ ယဉ်ကျေးသိမ်မွေ့ခြင်း အရာတွင် လည်းကောင်း၊ နူးညံ့ပျော့ပျောင်းခြင်းအရာတွင် လည်းကောင်း နှစ်ယောက်မရှိ

သည့် အလက်ဇန်းဒရား ဘုရင်၏ ရွှေလက်ထက်တော်၌ ဤမျှ တန်ခိုးအရှိန်အဝါ ကြီးလှသော စစ်ဝန်ကြီးရာထူးတွင် တည်မြဲနေနိုင်ခြင်းမှာ ရှောင်လွှဲမရသော နိယာမတရားကြောင့်ဟူသော အကြောင်း ပြချက်မှလွဲ၍ အခြားအကြောင်းပြစရာ လည်း မရှိတော့ ချေ။

တပ်ရေးချုပ် ဗလရှေ့ ရောက်သွားသောအခါ၌ ပြင်သစ်စစ်သူကြီး ဒါဗောက် သည် လယ်သမားတစ် ယောက်၏ နွားတင်းကုပ်ထဲရှိ စည်တစ်လုံးပေါ်တွင် ထိုင် ကာ စာရင်းအင်းများကို စစ်ဆေးလျက်ရှိ၏။ အမှန် အားဖြင့် စစ်သူကြီး ဒါဗောက် အတွက် ထိုထက် အဆများ စွာ ကောင်းသော အဆောက်အအုံများရှိပါသည်။ သို့ရာတွင် မျက်နှာထား တင်းမာသွေးပုပ်သော လူများသည် မိမိတို့၏ မျက်နှာထား တင်းမာသွေးပုပ်ခြင်းကို တစ်ဖက်လူ မြင်သည့် အခါ၌ "သူ့ခမျာ ဤမျှလောက် များပြားသော အလုပ် တာဝန်များကို ဤမျှ ညစ်ပတ်သော ပတ်ဝန်းကျင်တွင် နေ့ မအား ညမအား ထမ်းဆောင်ရရှာပေသည်။ ထို့ကြောင့် သူတို့ခမျာ မျက်နှာထား တင်းမာသွေးပုပ်နေရခြင်း ဖြစ်တန် ရာသည်"ဟု လက်ခံ ခွင့်လွှတ်နိုင်စေရန် အတွက် ညစ်ပတ် နံချာသော ပတ်ဝန်းကျင်ကို တမင်ရွေးချယ်၍ အလုပ်လုပ် တတ်ကြလေရာ စစ်သူကြီး ဒါဗောက်မှာလည်း ဤလို လူစားမျိုး ဖြစ်၏။ ဤလို အများက အထင်ခံရအောင် လည်း ထိုလူမျိုးများသည် အလုပ်ကို အပတ်တကုတ် ကြိုးစားလုပ်တတ်ကြလျက်၊ အမြဲတမ်း အရေးကြီးနေသည့် ဟန်ကိုလည်း ဆောင် ထားတတ်ကြလေသည်။ "ဤမျှ ညစ်ပတ်သော နွားတင်းကုပ်ထဲတွင် စည်ပိုင်း ပြတ်ကို ထိုင်ခုံပြု၍ အလုပ်လုပ်လျက်ရှိသော ကျွန်ုပ်လို လူမျိုး တစ်ယောက်အဖို့ မည်သို့ စိတ်ရွှင်လန်းခြင်း ဖြစ်နိုင်မည် နည်း"ဟု စစ်သူကြီး ဒါဗောက်၏ မျက်နှာ အမူအရာက ထုတ်ဖော်ပြောဆိုဟန် ရှိ၏။ ရုရှားစစ်ဝန်ကြီး အာရတ်ချေ နှင့် ပြင် သစ် စစ်သူကြီး ဒါဗောက်လို လူမျိုးသည် မိမိ ထံသို့ စိတ်အားထက်သန်စွာ လာ ရောက်တွေ့ဆုံသူတစ်ဦး ရောက်လာသည်နှင့် တစ်ပြိုင်နက် ထိုသူကို ဖုတ်လေ

သည့် ငါးပိ ရှိသည်ဟူ၍ပင် မအောက်မေ့ဘဲ ယား၍မျှ မကုတ် အားအောင် အလုပ်ရှုပ်လျက်ရှိသည့်ပုံမျိုးကို ဆောင်ခြင်း ဖြင့် ဟိတ်ထုတ်တတ်ကြလေရာ ဤသို့ အမြဲတမ်း အရေး တကြီး အလုပ်များလျက်ရှိဟန် ဟိတ်ထုတ်ရခြင်းသည် ၎င်းတို့အဖို့ မရှိမဖြစ်သော လိုအပ်ချက်ကြီးတစ်ရပ် ဖြစ်ရုံ မျှမက၊ အဓိကကျသော ဇိမ်ခံနည်းတစ်ခုလည်း ဖြစ်လေ သည်။ တာဝန်ကျ တပ်ရေးဗိုလ်များက တပ်ရေးချုပ် ဗလရှေ့ကို ခေါ်လာသောအခါ၌ စစ်သူကြီး ဒါဗောက် သည် ဤသို့သော ဇိမ်ခံနည်းဖြင့် အရသာခံလျက်ရှိလေ သည်။ ၎င်း၏တင်းကုပ်ထဲသို့ ရုရှား တပ်ရေးချုပ် ဗလရှေ့ ဝင်လာသည်နှင့်တစ်ပြိုင်နက် စစ်သူကြီး ဒါဗောက်သည် အလုပ်ထဲတွင် များစွာ စိတ်ပါဝင်စားလျက် ရှိဟန်ကို ဆောင်လိုက်ပြီးနောက် မျက်မှန်ပေါ်မှ ကျော်၍ တပ်ရေးချုပ် ဗလရှေ၏မျက်နှာကို တစ်ချက်မျှ လှမ်းကြည့် လိုက်သည်။ နံနက်ခင်း၏ သာယာလှပခြင်းကြောင့်လည်းကောင်း၊ မူးရတ်ထံမှ မျှော်လင့်ချက်ရှိသော စကားမျိုးကို ကြားခဲ့ရ ခြင်းကြောင့် လည်းကောင်း တပ်ရေးချုပ် ဗလရှ၏ မျက်နှာသည် ရွှင်လန်းထက်သန်လျက် ရှိ၏။ စစ်သူကြီး ဒါဗောက်သည် တပ်ရေးချုပ် ဗလရေကို ကြည့်ပြီးနောက် မတ်တတ်ထခြင်းလည်း မပြု၊ လှုပ်ရှားခြင်းလည်း မရှိဘဲ မျက်မှောင်ကို ပို၍ ကုတ်ထားလိုက်ကာ မျက်နှာထား ကိုလည်း ပို၍ တင်းထားလိုက်သည်။

ဤသို့ စစ်သူကြီး ဒါဗောက်၏ မထီမဲ့မြင်ပြုခြင်း ကို တွေ့ရသည့်အခါ၌ တပ်ရေးချုပ် ဗလရှေ၏မျက်နှာ တွင် မကျေနပ်သော အရိပ်အယောင်တို့ ပေါ်ပေါက်လာခဲ့ လေပြီ။ ထိုအခြင်းအရာကို သတိပြုမိသည့်အခါတွင်မှ . စစ်သူကြီး ဒါဗောက်သည် မော့ကြည့်လိုက်လျက် မည်သည့် ကိစ္စဖြင့် လာရောက်ကြောင်းကို စိတ်ပါဝင်စားခြင်း မရှိ ဟန်ဖြင့် မေးမြန်းစုံစမ်းခြင်း ပြုလေသည်။

မိမိသည် အလက်ဇန်းဒရား ဘုရင်မင်းမြတ်၏ တပ်ရေးချုပ်ဖြစ်ခြင်း၊ နပိုလီယန်ထံသို့ အထူးစေလွှတ်ခြင်း ခံရသော ရာဇတမန် ဖြစ်ခြင်းတို့ကို ပြင်သစ်

စစ်သူကြီး ဒါဗောက် မသိသေး၍သာ မိမိအား ဤသို့ မထီမဲ့မြင် ဆက်ဆံခြင်း ဖြစ်တန်ရာသည်ဟု ယူဆသဖြင့် တပ်ရေး ချုပ် ဗလရှေ့သည် မိမိ၏ ရာထူး အဆင့်အတန်းနှင့် လာ ရောက်ခြင်းကိစ္စကို ထုတ်ဖော်ပြောဆိုလိုက်သည်။ သို့ရာတွင် မျှော်လင့်သကဲ့သို့ ဖြစ်မလာဘဲ ဤသို့ ထုတ်ဖော် ပြောလိုက်ခါမှပင် စစ်သူကြီး ဒါဗောက်မှာ ပို၍ သုန်မှုန် လာကာ ပိုမိုရိုင်းပျစွာ ဆက်ဆံလာချေသေး၏။

"ဗိုလ်ချုပ်မှာ စာချွန်တော်ပါသလား" စစ်သူကြီး ဒါဗောက်က မေးသည်။ "ပါရင် ကျုပ်ဆီ ထားပစ်ခဲ့၊ ဘုန်းတော်ကြီးသော ဘုရားဆီကို ကျုပ်ပို့ပေးမယ်" တပ်ရေးချုပ် ဗလရှေ့က ဤစာချွန်တော်ကို မိမိ ကိုယ်တိုင် နပိုလီယန် ဧကရာဇ်မင်းထံ ဆက်သရမည်ဟု အမိန့်ပါလာကြောင်းဖြင့် ပြန်ပြောလိုက်သည်။

"ဗိုလ်ချုပ်ရဲ့ ပြည့်ရှင်ဧကရာဇ်က ပေးတဲ့အမိန့် များကို ဗိုလ်ချုပ်တို့တပ်ထဲမှာသာ လိုက်နာဖို့ရှိသဗျ။ ကျုပ်တို့ဆီမှာတော့ ကျုပ်တို့အမိန့်အတိုင်း လုပ်ရပေလိမ့် မယ်"

"

ထိုနောက် ပြင်သစ်စစ်သူကြီး ဒါဗောက်သည် ဤနေရာတွင် မိမိ၏စကားသာလျှင် အမိန့်အာဏာဖြစ် ကြောင်းကို ရုရှားတပ်ရေးချုပ် ဗလရှေ သိစေလိုဟန်ဖြင့် တပ်ရေးတစ်ယောက်ကို စေလွှတ်၍ တာဝန်ကျတပ်ဗိုလ် ကို အခေါ်ခိုင်းလိုက်သည်။

တပ်ရေးချုပ် ဗလရှေသည် အလက်ဇန်းဒရား ဘုရင်၏ စာချွန်တော်ပါသော စာထုပ်ကို ထုတ်၍ စားပွဲ ပေါ်သို့ (စားပွဲဟုဆိုရသော်လည်း စည်ပိုင်းနှစ်လုံးပေါ်တွင် ခင်းထားသော ပတ္တာများပင် မပြုတ်သေးသည့် တံခါးရွက်တစ်ချပ်သာ

ဖြစ်၏။) တင်ထားလိုက်သည်။ ပြင်သစ်စစ်သူကြီး ဒါဗောက်သည် စာအုပ်ကိုဖြေ၍ စာ ချွန်ကို ထုတ်ဖတ်နေသည်။

"ကျုပ်ကို ရာဇဝတမန်တစ်ဦးအနေနဲ့ ရှိသေခန့်ညား စွာ ဆက်ဆံခြင်း ပြုမပြု ကတော့ ဗိုလ်ချုပ်ဘာသာ ကြိုက်သလို ဆုံးဖြတ်နိုင်ပါတယ်" တပ်ရေးချုပ် ဗလ ရှေ့ က ပြင်သစ် စစ်သူကြီး ဒါဗောက်၏ မချေမငံ ဆက်ဆံ ခြင်းကို ကန့်ကွက် ပြောဆိုလိုက်၏။ "ဒါပေမဲ့ ကျုပ်ဟာ ဘုန်းတော်ကြီးလှသော ဘုရင်ကေရာဇ်ရဲ့ တပ်ရေးချုပ် ဖြစ်တယ်ဆိုတာကိုတော့ ဗိုလ်ချုပ် သဘိပြုစေလိုတယ်ဗျ"

ပြင်သစ်စစ်သူကြီး ဒါဗောက်သည် တပ်ရေးချုပ် ဗလရေကို မျက်လုံးလှန်၍ ကြည့်လိုက်သည်။ တပ်ရေးချုပ် ဗလရှေ၏ မျက်နှာပေါ်တွင် ဒေါသထွက်သော အမူအရာ ကို မြင်ရခြင်းအတွက်လည်း ကျေနပ်အားရလျက် ရှိလေ သည်။

"ထိုက်သည့်အားလျော်စွာ အရေးယူပြုစုခြင်းကို တော့ ခံရမှာပဗျာ" ပြင် သစ်စစ်သူကြီး ဒါဗောက်သည် ဤသို့ ပြောဆိုကာ စာထုပ်ကို အိတ်ကပ်ထဲသို့ ထည့်၍ တင်းကုပ်အပြင်သို့ ထွက်သွားလေသည်။

တစ်မိနစ်ခန့်ကြာသောအခါ၌ စစ်သူကြီး ဒါဗောက် ၏ တပ်ရေးဖြစ်သော ဒီ ကက်စထရီ အမည်ရှိ တပ်ရေး ဗိုလ်တစ်ဦး ရောက်လာကာ ရုရှားတပ်ရေးချုပ် ဗလရှေ့ အား ၎င်းအတွက် သီးသန့်ပြင်ဆင်ထားသော သံတဲသို့ ခေါ်ဆောင်သွား လေသည်။

ထိုနေ့၌ ရုရှားတပ်ရေးချုပ် ဗလရှေသည် ပြင်သစ် စစ်သူကြီး ဒါဗောက်နှင့် အတူ နွားတင်းကုပ်ထဲရှိ စည်ပြတ် ထိုင်ခုံများနှင့် တံခါးရွက်စားပွဲတွင် ထိုင်ကာ ညစာစားရ လေသည်။

နောက်တစ်နေ့ နံနက်စောစော၌ ပြင်သစ်စစ်သူကြီး ဒါဗောက်သည် ရုရှား တပ်ရေးချုပ် ဗလရှေ့ကို ၎င်းထံသို့ ဆင့်ခေါ်၍ တပ်ရေးချုပ် ဗလရှေ့သည် ဤ နေရာတွင် စောင့်ဆိုင်းနေရမည် ဖြစ်ကြောင်း၊ မကြာမီ ဝန်တင်လှည်း များ ထွက် ခွာလာရန် သက်ဆိုင်ရာမှ အမိန့်ပေးမည်ဖြစ်ရာ ထိုအခါ၌ အမိန့်အရ ထွက်ခွာလာ မည်ဖြစ်သော ရိက္ခာ တင် လှည်းများနှင့် လိုက်ခဲ့ရမည်ဖြစ်ကြောင်း၊ ထိုအတော အတွင်း မိမိ၏ တပ်ရေးဗိုလ်ဖြစ်သူ ဒီကက်စထရီနှင့်မှအပ အခြား မည်သူနှင့်မျှ စကားပြောရမည် မဟုတ်ကြောင်း စသဖြင့် တစ်ဖက်သား စောဒကတက်ခွင့် မရှိ အောင်၊ တောင်းပန်သလိုလိုနှင့် တစ်ချက်လွှတ် အမိန့်ပေးခြင်း ပြုလေသည်။ ထို့နောက်၌ကား ပြင်သစ်စစ်သူကြီး ဒါဗောက်သည် မြင်းတစ်စီးဖြင့် ထွက်ခွာသွား လေသည်။

ဤသို့ဖြင့် ရုရှားတပ်ရေးချုပ် ဗလချေသည် အကျယ်ချုပ်ချုပ်ထားခြင်း ခံ ရသကဲ့သို့ အထီးတည်း စိတ်အား ညှိုးငယ်စွာ စောင့်ဆိုင်းခဲ့ရသည်။ အချိန်ကို အလဟဿ ဖြုန်းတီးခဲ့ရသည်။ ယခင်က တပ်ရေးချုပ် အနေဖြင့် ထည်ဝါခမ်းနား စွာ နေခဲ့ရသလောက် ရန်သူ၏ သံတဲစခန်းတွင် မထင်မရှား နွမ်းပါးစွာ နေခဲ့ရ သည်။ ထို့နောက် ခရိုင်တစ်ခုလုံးကို သိမ်းပိုက်ထားသည့် ပြင်သစ် တပ်များ၊ စစ်သူကြီး ဒါဗောက်၏ ဝန်တင်လှည်းများနှင့် အတူ ဆင်းရဲညှိုးငယ်စွာ လိုက်ပါ လာခဲ့ရပြီးနောက် လေး ရက်မြောက်သောနေ့တွင် လွန်ခဲ့သော လေးရက်ခန့်က န ပိုလီယန်ထံသို့ ရာဇတမန်အဖြစ် မိမိကိုယ်တိုင် ထွက်ခွာ လာခဲ့သော မြို့တံခါးမှ ပင် ဝီလနာမြို့သို့ နပိုလီယန်နှင့် တွေ့ရန် ပြန်လည်ရောက်ရှိလာခဲ့လေသည်။

ဤလေးရက်အတွင်း၌ကား ဝီလနာမြို့သို့ ပြင်သစ် တပ်များက သိမ်းပိုက်ခဲ့ ကြလေပြီ။  နောက်တစ်နေ့တွင် ပြင်သစ်ကေရာဇ်မင်း၏ လူ ပျိုတော်သားတစ်ဦး ဖြစ်သူ ပြင်သစ်မြို့စားကြီး တူရိန်း သည် တပ်ရေးချုပ် ဗလရှေ့ထံသို့ ရောက်လာ ကာ ကေရာဇ်ဘုရင် နပိုလီယန်က တပ်ရေးချုပ် ဗလရှေအား ချီးမြှောက်သော

အားဖြင့် ညီလာခံသို့ ဝင်ရောက်ခစားခွင့် ပေးမည်ဖြစ်ကြောင်းဖြင့် အကြောင်းကြားလေသည်။

အချိန်စေ့သောအခါ၌ ဆိုင်ရာတို့က တပ်ရေးချုပ် ဗလရှေအား နပိုလီယန်၏ ရှေ့တော်မှောက်သို့ ဝင်ရောက် ခစားရန် ယာယီစံအိမ်တော်သို့ ခေါ်ဆောင်သွားကြ၏။ လွန်ခဲ့သော လေးရက်ခန့်ကမူ တပ်ရေးချုပ် ဗလရှေ့ကို ခေါ်ဆောင်သွားရာ စံအိမ်တော်ရှေ့၌ ရုရှား ပရီယိုဗရာဇင့် မြင်းတပ်ရင်းမှ တာဝန်ကျ အစောင့်တပ်သားများ စောင့် ကြပ်လျက်ရှိခဲ့ကြ၏။ ယခုမူကား စံအိမ်တော်ရှေ့၌ မွေးပွသံပရာခွံဦးထုပ်ဆောင်းလျက် ရင်ဘတ်ဟထားသော အပြာရောင် ဝတ်စုံကို ဝတ်ဆင်ထားသည့် ပြင်သစ်လက်ပစ် ဗုံးကိုင် ရဲမက်နှစ်ဦး စောင့်ကြပ်လျက်ရှိကာ ပိုလန်မြင်းတပ် သားများ၊ ပြင်သစ် မြင်းတပ်သားများ၊ ခမ်းနားသပ်ရပ်စွာ ဝတ်ဆင်ထားသော ကိုယ်ရံတော်ဗိုလ်များ၊ နောက်တော်ပါ များနှင့်တကွ မင်းဧကရာဇ် ထွက်တော်မူချိန်ကို စောင့်မျှော် လျက်ရှိသည့် ဗိုလ်ချုပ်ကြီးများသည် နပိုလီယန်၏ ကကြိုး တန်ဆာ စုံလင်စွာ ဆင်ယင်ထားသော စီးတော်မြင်းကြီးနှင့် သက်တော်စောင့် ရပ်စတန်၏ ပတ်ပတ်လည်တွင် ဝိုင်းအုံ လျက် ရှိကြလေသည်။ •

လွန်ခဲ့သော လေးရက်ခန့်က ရုရှားပြည့်ရှင် ဧကရာဇ် အလက်ဇန်းဒရားသည် တပ်ရေးချုပ် ဗလရှေ့ အား ဆင့်ခေါ်၍ နပိုလီယန်ထံ စာချွန်တော်ပေးပို့ရန် စေလွှတ်သော နေရာမှာ ဝီလနာမြို့ရှိ ဤစံအိမ်ပင်ဖြစ်၍ ပြင်သစ်ဧကရာဇ် နပိုလီယန်က တပ်ရေးချုပ် ဗလအား လက်ခံတွေ့ဆုံ၍ အလက်ဇန်းဒရားဘုရင်ထံမှ စာချွန်တော် ကို ကြားနာသည့် နေရာမှာလည်း ဝီလနာမြို့ရှိ ဤစံအိမ် ပင် ဖြစ်ပေသတည်း။

# အခန်း ၆

တပ်ရေးချုပ် ဗလသည် မင်းမှုတော်ထမ်းသက် ရင့်လှ ပြီဖြစ်သည့် အလျောက် မင်းဧကရာဇ်တို့၏ အဆောင်  အယောင် ခမ်းနားကြီးကျယ်ခြင်းကို တွေ့မြင်ဖူးခဲ့လှပြီ ဖြစ်သော်လည်း ပြင်သစ်ဧကရာဇ် နပိုလီယန်စံမြန်းရာ ယာယီစံ နန်း၏ ခမ်းနားကြီးကျယ်ခြင်း၊ ထည်ဝါခံ့ညား ခြင်းကိုမူ တအံ့တသြဖြစ်လျက် ရှိလေသည်။

လူပျိုတော်သား မြို့စားကြီး တူရိန်းသည် တပ်ရေး ချုပ် ဗလရှေ့ကို ကြီးမား ကျယ်ပြန့်လှသော ဧည့်ခန်းဆောင် ကြီးထဲသို့ ခေါ်ဆောင်သွားလေသည်။ ထို ဧည့်ခန်းဆောင် ထဲ၌ကား များစွာသော ဗိုလ်ချုပ်ကြီးများ၊ လူပျိုတော်သား များ၊ ပို လန်မှူးကြီးမတ်ရာများ (၎င်းတို့အနက် အချို့မှာ ရုရှားရွှေနန်းသို့ လာရောက်ခစား ဖူးကြ၍ တပ်ရေးချုပ် ဗလရှေ့ မြင်ဖူးနေသည်။)တို့သည် ထွက်တော်မူကြီးကို စောင့်ဆိုင်းလျက်ရှိကြ၏။ နပိုလီယန်သည် မြင်းစီးကျင့် ထွက်တော်မူခြင်း မပြုမီ ရုရှားတပ်ရေးချုပ်ကို လက်ခံ တွေ့ဆုံတော်မူမည် ဖြစ်ကြောင်းဖြင့် အမတ်ချုပ် ဒူးရော့က ပြောပြလေသည်။

မိနစ်အတန်ကြာသောအခါ၌ တာဝန်ကျ လူပျို တော်သားသည် ဧည့်ခန်း ဆောင်ကြီးထဲသို့ ရောက်လာကာ ရိုသေစွာ ဦးညွှတ်လျက် တပ်ရေးချုပ် ဗလရှေ အား ခေါ် ဆောင်သွားလေသည်။

တပ်ရေးချုပ် ဗလသည် ခပ်သေးသေး ဧည့်ခန်း ဆောင်တစ်ခုထဲသို့ ဝင်လိုက် လာခဲ့သည်။ ဧည့်ခန်းဆောင် ငယ်၌ တံခါးပေါက်များစွာ ရှိသည့်အနက် တစ်ခု သော တံခါးပေါက်မှထွက်လျှင် စာကြည့်ဆောင်ထဲသို့ ရောက်၏။ ထိုစာကြည့်

ဆောင်ကား ရုရှားဘုရင် ဧကရာဇ်က တပ်ရေး ချုပ်ဗလရှေအား ယခုကဲ့သို့ နပိုလီယန်ထံ စာချွန်တော် ပေးပို့ရန် စေလွှတ်ခြင်းပြုသော နေရာပေတည်း။ တပ်ရေး ချုပ် ဗလရှေသည် ထိုညှော့်ခန်းဆောင်ငယ်ထဲ၌ တစ်မိနစ်၊ နှစ်မိနစ်ကြာမျှ ရပ်နေမိသည်။ တစ်ဖက်ခန်းမှ လျင်မြန် စွာ လျှောက်လာသော ခြေသံများကို ကြားရပြီးနောက် တံခါးရွက်နှစ်ချပ်သည် လျင်မြန်စွာ ပွင့်လာ၏။ ထိုအချိန်၌ မီးကို ရေဖြင့် သတ်လိုက်သကဲ့သို့ တိတ်ဆိတ်သွားကာ စာကြည့်ဆောင်ဖက်ဆီမှ တစ်လှမ်းချင်း ခပ်ပြင်းပြင်း လျှောက်လာသော ခြေသံများကို ကြားရ၏။ ထိုခြေသံ များကား နပိုလီယန်၏ ခြေသံများပေတည်း။ နပိုလီယန် မှာ မြင်းစီးကျင့်ရန်အတွက် အဝတ်အစား လဲပြီးခါစဖြစ် သည်။ အောက်တွင် အဖြူရောင် ခါးတို ကိုယ်ကျပ်အင်္ကျီ ကို ဝတ်ထားလျက် အိုးစရည်းသဖွယ် လုံးဝန်းသော ဝမ်း ဗိုက်ကို ဖုံးဖိရုံရှည်သော အပြာရောင်ဝတ်စုံ၊ တုတ်တို၍ ဆူဖြိုးလျက်ရှိသော ပေါင်များတွင် ကပ်နေသည့် အသား ကပ် ဒူးကျပ်ဘောင်းဘီနှင့် ရွက်ဖျင်ဖိနပ်ရှည်တို့ကို ဝတ်ဆင်ထားသည်။ တိုနံ့နံ့ဆံပင်မှာ မကြာမီကပင် ဖြီးထားခဲ့ သော်လည်း ဆံခွေတစ်ခွေသည် ကျယ်ပြန့်သော နဖူး အလယ်တည့်တည့်ပေါ်သို့ ကျလျက်ရှိ၏။ သေးသွယ် ဖြူဖွေးသော လည်ပင်းသည် ဝတ်စုံလည်ထောင် အနက် ရောင်ထဲမှ ထိုးထွက်လျက်ရှိ၍ ၎င်း၏ကိုယ်မှလည်း အိုဒီကလုံးရေမွှေးနံ့သည် မွှေးကြိုင်လျက်ရှိလေသည်။ စဉ်းငယ်ချွန်သော မေးရိုးနှင့်တကွ နုပျိုသယောင်ရှိသော ခပ်ဝိုင်းဝိုင်း မျက်နှာသည် သံတမန်တို့အပေါ်၌ လှိုက်လှဲ ပျူငှာရှိခြင်းကို ကျက်သရေရှိစွာ ဖော်ပြလျက်ရှိလေ သည်။

နပိုလီယန်သည် ခေါင်းကို အနည်းငယ်မော့၍ ခြေသံပြင်းပြင်းနှင်းကာ ညှော့်ခန်းဆောင်သို့ ခပ်သုတ်သုတ် ဝင်လာလေသည်။ ကျယ်ပြန့်တောင့်တင်းသော ပခုံး၊ ရှေ့သို့ကော့လျက်ရှိသော ရင်အုပ်၊ စူထွက်လျက်ရှိသော ဝမ်းဗိုက်တို့နှင့်တကွ ခပ်ပြတ်ပြတ် ခပ်ဖိုင့်ဖိုင့် ပုံသဏ္ဌာန် သည် ပင်ပန်းကြီးစွာ မလုပ်ရဘဲ

သက်သောင့်သက်သာ နေခဲ့ရသော အသက်လေးဆယ်ကျော် လူတစ်ယောက်တွင် တွေ့မြင်ရတတ်သည့် ခန့်ညားတင့်တယ်ခြင်းမျိုးကို ဆောင် လျက်ရှိ၏။ ထိုနေ့တွင် နပိုလီယန်သည် အထူးကြည် လင်ရွှင်ပျသော အသွင်ကို ဆောင်လျက်ရှိလေသည်။

တပ်ရေးချုပ် ဗလရှေးက ရိုသေစွာ ဦးညွှတ်ခစား သောအခါတွင် နပိုလီယန်သည် ခေါင်းညိတ်၍ အသိ အမှတ်ပြုလိုက်လျက် အနီးသို့လျှောက်လာကာ မိမိ ပြောမည့် စကားသည် သင့်မသင့် လျော်မလျော်ကို စဉ်းစားခြင်း ပြုရန် လိုအပ် ခြင်း မရှိလောက်အောင် မှန်ကန်လျက်ရှိသည် ဟု ယုံကြည်စိတ်ချသူ တစ်ယောက်၊ မိမိ၏ အချိန်ကို များစွာ တန်ဖိုးထားသည့် လူတစ်ယောက်၏ ဟန်မျိုးဖြင့် တပ်ရေးချုပ် ဗလရှေ့ကို မဆိုင်းမတွ နှုတ်ဆက်လိုက်သည်။

“အသင် ယူဆောင်လာသော ညီတော် အလက်ဇန်း ' ဒရား ဘုရင်မင်းမြတ်၏ စာချွန်တော်ကို ငါရရှိသည်။

သင်နှင့် တွေ့ဆုံရခြင်းအတွက်လည်း ဝမ်းမြောက်လှသည် တပ်ရေးချုပ်” နပိုလီယန်သည် စူးရှတောက်ပြောင်သော မျက်လုံးများဖြင့် တပ်ရေးချုပ် ဗလရှေ၏မျက်နှာကို ကြည့်လိုက်ပြီးနောက် အဝေးသို့ မျှော်ကြည့်နေသည်။

ဤအပြုအမူကား နပိုလီယန်သည် တပ်ရေးချုပ် ဗလရှေအား များစွာ စိတ်ဝင်စားခြင်းမရှိဘဲ မိမိ၏စိတ်ထဲ တွင် တွေးတောလျက်ရှိသည့် အရာကိုသာ စိတ်ဝင်စား လျက် ရှိကြောင်းကို ပြသသည့် အပြုအမူဖြစ်လေသည်။ နပိုလီယန် အဖို့တွင် မိမိ၏စိတ်ကူးအပဉ္စ ဖြစ်ပေါ်လျက် ရှိသော အခြင်းအရာဟူသမျှတို့သည် သေးနုပ်သောအရာ များသာ ဖြစ်သည်ဟု ယူဆလျက်ရှိလေသည်။ နပိုလီယန် ၏ စိတ်၌ ကမ္ဘာလောကကြီးထဲတွင် တည်ရှိသမျှသော အရာဝတ္ထု ခပ်သိမ်းတို့သည် မိမိ၏စိတ်၊ မိမိ၏ဆန္ဒ၊ မိမိ၏အလိုကို လိုက်၍ဖြစ်ကြသည်ဟု ထင်မှတ်လျက် ရှိလေသည်။

"ငါ၌ စစ်ပြုလိုသောဆန္ဒ ယခင်ကလည်း မရှိခဲ့၊ ယခုလည်း မရှိချေ" နပိုလီယန်က ဆို၏။ "သို့ရာတွင် ယခုမူ ငါ သင်တို့ကေရာဇ် အရေးတောင်းလာချေသောကြောင့် ငါစစ်မပြုဘဲ နေ၍မရပြီ။ သို့တိုင်အောင် ယခု အချိန်ထိ (နပိုလီယန်က ထိုစကားလုံးကို အလေးအနက် ပြု၍ ဆိုသည်။) သင်လျှောက်တင်ဖွယ်ရှိသော ရှင်းလင်း ထုချေချက်တို့ကို ငါကြားနာရန် အဆင်သင့်ရှိသေးသည် တပ်ရေးချုပ်"

ထို့နောက် နပိုလီယန်သည် ရုရှားနိုင်ငံ အစိုးရ အား မည်သည့်အတွက်ကြောင့် မကျေနပ်ခြင်းဖြစ်ရသည့် အကြောင်းများကို အကျဉ်းချုပ်၍ ရှင်းလင်းစွာပြောပြ လျက်ရှိ၏။ ငြိမ်သက်တည်ကြည်စွာဖြင့် သာယာညင်း ပျောင်း စကားဆိုခြင်းကို ထောက်သော် ပြင်သစ်ကေရာဇ် သည် ငြိမ်းချမ်းရေးကို လိုလားလျက်စေ့စပ်ဆွေးနွေးရန် ဆန္ဒရှိဟန်တူသည်ဟု တပ်ရေးချုပ်ဗလရှ ယူဆမိသည်။

နပိုလီယန်သည် စကားဆုံးသည်နှင့် ရုရှားရာဇ တမန်ကို စူးစမ်းသော အကြည့်ဖြင့် ကြည့်၏။ တပ်ရေးချုပ် ဗလရှေသည်လည်း မိမိ၏စိတ်ထဲတွင် အသင့်ပြင်ဆင် လာခဲ့သော စကားများကို လျှောက်တင်ခြင်း ပြုလေသည်။

"သံတော်ဦး တင်ဝံ့ပါသည် ဘုန်းတော်ကြီးလှ သော ပြင်သစ်ရွှေနန်းရှင်၊ ကျေးတော်မျိုး ကျွန်တော်မျိုး တို့၏သခင် ထီးဆောင်းမင်းတို့၏ဘုရင်မင်းမြတ်"

တပ်ရေးချုပ် ဗလရှေသည် ကေရာဇ်ဘုရင် နပို  လီယန်၏ မျက်လုံးများကို မြင်လိုက်ရသည်၌ မည်သို့ ဆက်လက် လျှောက်တင်ရမည်ကို မသိဘဲ တန့်သွား၏။ "မောင်မင်း ဣန္ဒြေပျက်လွန်းလှသည်။ ဣန္ဒြေကို သိမ်းဆည်း လေဦး"ဟု နပိုလီယန်၏ မျက်လုံးများက သတိပေးနေ သကဲ့သို့ ဗလရှေထင်မိ၏။ နပိုလီယန်သည် ပြုံးသည် ဆိုရုံမျှပြုံးကာ တပ်ရေးချုပ်ဗလရှေ၏ ဗိုလ်ချုပ်ဝတ်စုံနှင့် ဓားလွယ်ကို ကြည့်လျက်ရှိသည်။

တပ်ရေးချုပ် ဗလရေသည် သတိကိုဖြစ်စေလျက် ဆက်လက် လျှောက်တင်ခြင်းပြု၏။ ပါရီရွှေမြို့တော်ရှိ ရုရှားသံတော်ကြီး ကူရာဂင်က နိုင်ငံကူးလက်မှတ် လျှောက် ထား၍ နေပြည်တော်သို့ ပြန်ရန် ပြင်ဆင်ခြင်းမှာ ၎င်း၏ သဘောအရ ပြုလုပ်ခြင်းမျှသာဖြစ်၍ ဘုန်းတော်ကြီးလှ သော ရုရှားရွှေနန်းရှင်၏ သဘောတူညီချက်အရ ပြုလုပ် ခြင်း မဟုတ်ကြောင်း၊ ပါရီရွှေမြို့တော်ရောက် သံတော် ကြီး ကူရာဝင် နေပြည်တော်သို့ ပြန်ရန် ပြင်ဆင်ခြင်းသည် နှစ်ပြည့်တစ်ပြည် စစ်ခင်းကြရန် ခိုင်လုံသောအကြောင်း မဟုတ်ဟု ရုရှားရွှေနန်းရှင်က ယူဆတော်မူကြောင်း၊ ဘုန်းတော်ကြီးလှသော ရုရှားရွှေနန်းရှင်သည် ပြည်ထောင် ချင်း စစ်ခင်းရန် လိုလားတော်မူခြင်း မရှိကြောင်း၊ အင်္ဂလိပ်နှင့်လည်း မည်သို့မျှ အဆက်အသွယ်မရှိကြောင်း ဖြင့် တပ်ရေးချုပ် ဗလရှေ့က လျှောက်တင်ခြင်း ပြုလေ သည်။

"သင်တို့ဘုရင်သည် အင်္ဂလိပ်နှင့် ယခု အဆက် အသွယ် မရှိသေး" နပိုလီယန်က ကြားဖြတ်၍ပြောသည်။ နပိုလီယန်သည် အမျက်ဒေါသကို ချုပ်တည်းထားရဟန် ဖြင့် မျက်မှောင်ကုတ်လိုက်ပြီးနောက် ရှေ့ဆက်၍ လျှောက် တင်ရန် ခေါင်းကို အသာအယာ ညွှတ်ပြလိုက်၏။

တပ်ရေးချုပ် ဗလရှေသည်လည်း မိမိအား စေတော် မူလိုက်သည့်အတိုင်း လျှောက်တင်ဖွယ်ရှိသည်ကို လျှောက် တင်ပြီးသည့်နောက် ရုရှားရွှေနန်းရှင် အလက်ဇန်းဒရား ဘုရင်မင်းမြတ်သည် ငြိမ်းချမ်းရေးကို လိုလားတော်မူ ကြောင်း၊ မင်းနှစ်ပါးတို့ တွေ့ဆုံစည်းဝေး၍ စေ့စပ်ဆွေးနွေး ခြင်း ပြုရန်ကိုလည်း လိုလားတော်မူကြောင်း၊ သို့ရာတွင် ဤသို့ စေ့စပ်ဆွေးနွေးရန်မှာ....တပ်ရေးချုပ် ဗလျှေသည် ဆက်လက် လျှောက်တင်ခြင်းငှာ မဝံ့တော့ဘဲ ရပ်သွား၏။ တပ်ရေးချုပ် ဗလရှသည် ရာဇသံထဲတွင် ထည့်သွင်း ဖော်ပြခြင်း မပြုဘဲ ချန်လှပ်ထားခဲ့သော စကားလုံးများ ကို အမှတ်ရလာ၏။ ဘုန်းတော်ကြီးလှသော ဘုရားသည် ထို စကားလုံးများကို ရုရှားသံတော်ကြီး ကူရာဂင်ထံသို့ ပေးပို့သည့်စာချွန်ထဲတွင်

အတိအလင်း ရေးသားဖော်ပြ စေတော်မူခဲ့သော်လည်း တပ်ရေးချုပ် ဗလရေဖြင့် ပေးပို့ သည့်ရာဇသံထဲတွင်မူ ဖော်ပြထားခြင်းမပြုဘဲ တပ်ရေးချုပ် ဗလကိုသာ နပိုလီယန်ထံ နှုတ်ဖြင့် လျှောက်တင်ရန် အထပ်ထပ် မိန့်မှာတော်မူလိုက်၏။ "ရုရှားမြေပေါ်တွင် လက်နက်ကိုင်ရန်သူ တစ်စုံတစ်ယောက်ရှိနေသမျှ ကာလ ပတ်လုံး ငြိမ်းချမ်းရေး ဆွေးနွေးခြင်း ပြုမည်မဟုတ်"ဟူ သော စကားလုံးများကို တပ်ရေးချုပ် အမှတ်ရလာ၏။ သို့ရာတွင် တပ်ရေးချုပ် ဗလရှေသည် ထိုစကားလုံးများကို လျှောက်တင်ရန် မဝံ့မရဲဖြစ်လျက် ရှိလေသည်။ ထိုစကား များကို လျှောက်တင်လိုလှသော်လည်း အာစေးထည့်ထား ခြင်း ခံရဘိသို့ နှုတ်မှမထွက်နိုင်အောင်ဖြစ်လျက်ရှိလေ သည်။

"မှန်လှပါ၊ ငြိမ်းချမ်းရေး စေ့စပ်ဆွေးနွေးရန် ပြင်သစ်တပ်တော်ကြီးကို နီမင်မြစ်တစ်ဖက်ကမ်း (၎င်းမှာ ရုရှားနယ်နိမိတ် ဖြစ်သည်။)သို့ ဆုတ်ခွာပေးမှသာလျှင် ဖြစ်နိုင်ဖွယ်ရှိကြောင်းပါ။

တပ်ရေးချုပ် ဗလရှေသည် မရဲတရဲဖြင့် တင် လျှောက်ခြင်း ပြု၏။

ဤစကားများကို လျှောက်တင်ရာ၌ တပ်ရေးချုပ် ဗလရှ မူပျက်လျက်ရှိခြင်းကို နပိုလီယန် သတိပြုမိလေ ပြီ။ ထိုစဉ်၌ နပိုလီယန်၏မျက်နှာသည် ရှုံ့မဲ့စပြုကာ လက်ဝဲဘက် ပေါင်သားများသည် တဆတ်ဆတ်တုန်စ ပြုလာကြလေပြီ။ နပိုလီယန်သည် ယခင် ရပ်မြဲနေရာ၌ မလှုပ်မရှားရပ်လျက် တပ်ရေးချုပ် ဗလရေကို ပြန်ကြား ၏။ သို့ရာတွင် ၎င်း၏အသံသည် ကျယ်သည်ထက် ကျယ်၍ မြန်သည်ထက် မြန်လာခဲ့လေပြီ။ အသံကျယ်လာ သည်နှင့်အမျှ နပိုလီယန်၏ လက်ဝဲဘက် ပေါင်သားများ သည်လည်း လှုပ်သည်ထက် လှုပ်လာခဲ့ကြလေပြီ။ တပ်ရေး ချုပ် ဗလရှေသည် မျက်နှာချင်း မဆိုင်ဝံ့သည်နှင့် မျက်လွှာ ကို မကြွာ မကြွာချရာမှ ဤအခြင်းအရာကို သတိပြုလိုက် မိသည်။

“ငါသည် ငြိမ်းချမ်းရေးကို လိုလားခြင်းအရာ၌ ညီတော် အလက်ဇန်းဒရား ဘုရင်မင်းမြတ်ထက် လျော့ နည်းသည် မဟုတ်။ ငြိမ်းချမ်းရေးကို လိုလားသည့် အား လျော်စွာ ငြိမ်းချမ်းရေးရရန်အတွက် တစ်ဆယ့်ရှစ်လသော ကာလပတ်လုံး ငါ အစွမ်းကုန် လုပ်ဆောင်ခဲ့ပြီ မဟုတ် လော။ ညီတော် ရုရှားရွှေနန်းရှင်ထံမှ အကြောင်းပြန်ကြား ချက်ကို တစ်ဆယ့်ရှစ်လတိုင်တိုင် ငါစောင့်ခဲ့ပြီ။ ငြိမ်းချမ်း ရေး စေ့စပ်ဆွေးနွေးရန်အတွက် ငါ့အထံမှ မည်သည့် စည်းကမ်းချက်မျိုး လို သနည်း။ ထပ်မံလျှောက်တင်ဦး တပ်ရေးချုပ်”နပိုလီယန်သည် မျက်မှောင်ကုတ် လျက် နူးညံ့ ဖြူဖွေး၍ သေးငယ်သော လက်တစ်ဖက်ကို ဝှေ့ယမ်း၍ ဆိုသည်။ ,

”မှန်လှပါ၊ အရှင်၏ တပ်မတော်များကို နီမင်မြစ် တစ်ဖက်ကမ်းသို့ ဆုတ်ခွာ ပေးရန် ဖြစ်ကြောင်းပါ”

“နီမင်မြစ်တစ်ဖက်ကမ်းသို့ ဆုတ်ခွာရုံမျှသာလော၊ ဤမျှသာလော၊ စဉ်းစား၍ လျှောက်တင်ဦး တပ်ရေးချုပ်” နပိုလီယန်က တပ်ရေးချုပ် ဗလရှေ၏ မျက်လုံးများကို တည့်တည့်ကြီး စိုက်ကြည့်၍ မေးသည်။

တပ်ရေးချုပ် ဗလရှေက ရိုသေစွာ ဦးညွတ်ပြ၏။

လွန်ခဲ့သည့် လေးလခန့်ကမူ ရုရှားဘုရင်သည် နပိုလီယန်၏ တပ်များကို ပို မာရင်းနီးယား ရေလက်ကြား ၏တစ်ဖက်သို့ ဆုတ်ခွာပေးရမည်ဟု တောင်းဆို ခဲ့၏။ ယခုသော် နီမင်မြစ်၏ တစ်ဖက်ကမ်းကိုသာ ဆုတ်ခွာပေး ရမည်ဟု တောင်း ဆိုလာခဲ့လေသည်။ ရုရှားတို့၏ တောင်း ဆိုချက်သည် တစ်ထစ်လျော့၍ လာခဲ့လေ ပြီ။

- နပိုလီယန်သည် ချာခနဲလှည့်ကာ ခန်းဆောင်တွင်း တွင် ခေါက်တုံ့ခေါက်ပြန် လျှောက်လျက်ရှိ၏။

“နှစ်ပြည်ထောင်မင်းတို့ စေ့စပ်ဆွေးနွေးခြင်း မပြုမီ ငါ၏တပ်များကို နီမင်မြစ်တစ်ဖက်ကမ်းသို့ ဆုတ်ခွာပေး ရမည်ဟု သင်တို့ ကေရာဇ်က အရေးတောင်းလာခြင်းကား မသင့်။ လွန်ခဲ့သော နှစ်လကလည်း ငါ့၏တပ်များကို ဗစ်စတူလာမြစ်နှင့်အိုဒါမြစ်၏ တစ်ဖက်ကမ်းသို့ ဆုတ်ခွာ ပေးမှ စေ့စပ်ဆွေးနွေးရေး လုပ်မည်ဟု သင်တို့ ကေရာဇ် အရေး တောင်းခဲ့ဖူးပြီ”

နပိုလီယန်သည် အခန်းထောင့်တစ်ထောင့်မှသည် အခြား ထောင့်တစ်ထောင့်သို့ တိတ်ဆိတ်စွာ လျှောက်သွား ပြီး ပြန်လှည့်လာကာ တပ်ရေးချုပ် ဗလရှေ၏ရှေ့တွင် ရပ် လိုက်ပြန်သည်။ နပိုလီယန်၏မျက်နှာသည် ကျောက် သားဖြင့် ထုထားသကဲ့သို့ တင်းမာလျက်ရှိ၍ လက်ဝဲဘက် ပေါင်သည် တဆတ်ဆတ် လှုပ်လျက်ရှိခြင်းကို တပ်ရေး ချုပ် ဗလရှေ သတိထားလိုက်မိပြန်သည်။ နပိုလီယန်သည် လည်း ၎င်း၏ လက်ဝဲဘက်ပေါင် တဆတ်ဆတ်လှုပ်ခြင်း ကို သတိထားမိသည်။ “တစ်စုံတစ်ခု ဝိသေသထူးသော အခြင်းအရာကို ကြုံတွေ့တော့မည်ဆိုလျှင် ငါ၏လက်ဝဲ ဘက် ပေါင်သည် တဆတ်ဆတ် တုန်လာတော့သည်”ဟု နောင်သောအခါတွင် နပိုလီယန်က ပြောဖူးလေသည်။

“ဗစ်စတူလာမြစ်နှင့် အိုဒါမြစ်တစ်ဖက်ကမ်းသို့ ဆုတ်ခွာပေးရမည်ဆိုသော တောင်းဆိုချက်မျိုးကို သင်တို့ ကေရာဇ်သည် မထင်ရှားသော မင်းသားတစ်ပါးထံ တောင်း ဆိုခြင်း ပြုနိုင်သော်လည်း ငါကဲ့သို့သော ကေရာဇ်ကို စင်လျက် တောင်း ဆိုခြင်း ပြုရာသလော” နပိုလီယန်သည် ရုတ်တရက် ဒေါသထွက်လာကာ အော်လိုက်၏။ “သင်တို့ ကေရာဇ်သည် ပီတာစဘတ် ရွှေမြို့တော်နှင့် မော်စကိုမြို့ နှစ်မြို့ကို ငါ့အား ပေးစေဦး၊ ဤတောင်းဆိုချက်မျိုးကို ငါလက်ခံမည်မဟုတ်။ ဤစစ်ပွဲကို ငါ စတင်တိုက်သည် ဟု သင်တို့ ကေရာဇ်က ဆိုသည်။ သို့ရာတွင် ငါနှင့် သင် တို့ ကေရာဇ်နှစ်ဦးအနက် မည်သူသည် စစ်မြေသို့ ဦးစွာ ရောက်သနည်း။ စစ်မြေသို့ ကိုယ်တော်တိုင် ဦးစွာ ချီတက် သူမှာ ငါမဟုတ်။ သင်တို့ကေရာဇ်သာ ဖြစ်

ချေသည်။ သင်တို့ကေရာဇ်သည် အင်္ဂလိပ်နှင့် မဟာမိတ်ဖွဲ့ သည် မဟုတ်လော။ ငါ၌ အင်အားကြီး၍ သင်တို့တွင် အင်အား ယုတ်လျော့ကာ အခြေအနေ ဆိုးလာသည့်အခါကျမှ စေ့စပ် ဆွေးနွေးရေး စကားကမ်းလှမ်းသည် မဟုတ်လော။ သင်တို့သည် ငါနှင့် စေ့စပ်ဆွေးနွေးရန် ကမ်းလှမ်းခြင်း ပြုသော် လည်း ငါ့ရန်သူ အင်္ဂလိပ်နှင့် မဟာမိတ်ဖွဲ့သည် မဟုတ် လော။ သင်တို့သည် မည်သည့် ရည်ရွယ်ချက်ဖြင့် အင်္ဂလိပ်အား မဟာမိတ်ဖွဲ့သနည်း။ ဤသို့ မဟာမိတ် ဖွဲ့ခြင်းကြောင့် အင်္ဂလိပ်ထံမှ မည်သို့သော အကူအညီ ရသနည်း”

နပိုလီယန်သည် ဤသို့ တရစပ်ပြောလျက်ရှိ၏။ ဤသို့ ပြောဆိုရာတွင် နပိုလီယန်သည် ငြိမ်းချမ်းရေး၏ အကျိုးအာနိသင်နှင့် ငြိမ်းချမ်းရေး၏ အလားအလာများ ကို ပြောဆိုခြင်း မပြုတော့ဘဲ၊ မိမိ၏သဘောထား ဖြောင့်မှန်ခြင်း၊ မိမိ၏ဘုန်းလက်ရုံးတန်ခိုးတေဇော် ကြီး မားခြင်းနှင့် ရုရှားဘုရင် အလက်ဇန်းဒရား၏ အမှားများ၊ နှစ်ဖက်ခွ သဘောထားများကိုသာ ထုတ်ဖော်ပြောဆိုလျက် ရှိလေသည်။

နပိုလီယန်သည် ၎င်း၏မိန့်ကြားချက်အစ၌ မိမိ သည် အင်အားအရ တစ်ပန်းသာနေပြီဖြစ်ကြောင်း၊ သို့ အင်အား တစ်ပန်းသာလျက်ရှိသော်လည်း ငြိမ်းချမ်းရေး စေ့စပ်ဆွေးနွေးရန်ကိုမူ လိုလားချက်ရှိကြောင်း ဖော်ပြ လိုဟန်ရှိ၏။ သို့ရာတွင် နပိုလီယန်မှာ သူတစ်ဦးတည်းက ဒိုင်ခံ၍ အဆက်မပြတ် ပြောလျက်ရှိလေရာ စကားများ လာသည်နှင့်အမျှ ၎င်း၏စကားလုံးများသည်လည်း ရင့်သီး လာခဲ့လေပြီး ယခုအချိန်တွင် နပိုလီယန်၏ စကားများမှာ မိမိ ကိုယ်ကို မိမိ ချီးမြှောက်၍ ရုရှားဘုရင်အား နှိမ့်ချသော စကားများသာ ဖြစ်လေသည်။

“သင်တို့ကေရာဇ်သည် တူရကီနှင့် ငြိမ်းချမ်းရေး စာချုပ် ချုပ်ဆိုခဲ့ပြီ မဟုတ်လား”

တပ်ရေးချုပ် ဗလရှေ့က ဦးညွှတ်ကာ “မှန်လှပါ၊ ငြိမ်းချမ်းရေးစာချုပ် ချုပ် ဆိုတဲ့အခါမှာ”

သို့ရာတွင် နပိုလီယန်က ပြောခွင့်မပေးချေ။ နပို လီယန်သည် “ဗိုလ်ကျ တတ်သူများ ဓမ္မတာအတိုင်း ၎င်း တစ်ယောက်တည်းသာ ပြောလိုဟန်ဖြင့် ဒေါသ ကို ချုပ် တည်းခြင်းမရှိဘဲ စကားကို ဆက်တိုက်ပြောဆိုလျက် ရှိ၏။ . ' “ငါသိသည် တပ်ရေးချုပ်၊ သင်တို့ ဧကရာဇ်သည် မော်ဒါဗီးယားနှင့် ဝေါချီယ နယ်များကိုမရဘဲ တူရကီ များနှင့် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုခဲ့သည်။ တူရကီများ နှင့် မဟုတ်ဘဲ ငါ နှင့်သာ အကျေအလည် ဆွေးနွေးခဲ့လျှင် ဖင်လန်ပြည်ကို ငါပေးသကဲ့သို့ မော်ဒါဗီး ယားနှင့် ဝေါ ချီယနယ်များကိုလည်း သင်တို့ ဧကရာဇ်အား ငါပေးမည် သာ ဖြစ်သည်။ ယခုမူ သင်တို့ဧကရာဇ်သည် ငါနှင့် အပြေအလည် မရှိသည့်အတွက် ကြောင့် ဤနယ်နှစ်နယ်ကို လက်လွတ်ရလေပြီ။ သို့သော်လည်း အချိန်ရှိသေး သည်။ ငါနှင့်သာ ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုလျှင် သင်တို့ ဧကရာဇ်သည် ဤနယ် နှစ်နယ်ကိုလည်း ရမည်။ ရုရှား နိုင်ငံကြီးကိုလည်း ဆော့သနီးယား ပင်လယ်ကွေ့မှ သည်  ဒင်ညူမြစ်အထိ ကျယ်ပြန့်သော နိုင်ငံတော်ကြီးအဖြစ် ထူထောင်နိုင်မည်။ ဤမျှလောက် ကျယ်ပြန့်သော နိုင်ငံ တော်ကြီးကို သင်တို့ ဧကရာဇ်၏ ဘွားတော် ဘေးတော် ကက်သရင်း ဘုရင်မကြီးပင်လျှင် ထူထောင်နိုင်ခဲ့ခြင်း မရှိ သည့်အတွက် သင်တို့အရှင်လည်း ဘုန်းလက်ရုံးတောက် မည်သာ ဖြစ်သည်”

နပိုလီယန်သည် တစ်လဆစ် ဆွေးနွေးပွဲတွင် အလက်ဇန်းဒရား ဘုရင်အား ပြောကြားခဲ့သည့် စကား များကို တပ်ရေးချုပ် ဗလရှေ့ကို ထပ်မံပြောဆိုပြန်၏။ ဤသို့ ပြောရင်းလည်း နပိုလီယန်သည် အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်လျက်ရှိလေသည်။

"ဤသို့သာ နှစ်ပြည်ထောင် မင်းနှစ်ပါး အကျေ အလည်ဖြစ်ကြလျှင် ငါတို့ အချင်းချင်း ချစ်ကြည်၍ နှစ် ပြည်ထောင် သဟာယ မဟာမိတ်ဖြစ်ကြမည်။ သင် တို့ ကေရာဇ်၏ တိုင်းနိုင်ငံတော်သည်လည်း အဘက်ဘက်မှ ပွားစည်းမည်။ ယခုမူ သင်တို့ကေရာဇ် မဆင်မခြင် ပြု လေသောကြောင့် သင်တို့ နိုင်ငံသည် ဆီးဖြူသီး ဆန်ကော တွင် လှိမ့်သည့်ပမာ ကြီးစွာသော ဒုက္ခရောက်ကြ တော့မည်"

နပိုလီယန်သည် ထိုစကားများကို အဖန်တလဲလဲ ရွတ်ဆိုလျက်ရှိရာမှ ရပ် လိုက်၍ အိတ်ထဲမှ ရွှေဖြင့်ပြုလုပ် သော ရှူဆေးဘူးကို ထုတ်ကာ အားရပါးရ ရှူ လိုက်၏။

"ငါနှင့်သာ အကြည်တဖြူဆက်ဆံက သင်တို့ ကေရာဇ်၏ နိုင်ငံတော်သည် အဘက်ဘက်မှ ပွားစည်း မည်။ ယခုမှ သင်တို့ပြည်သားတို့ တောင်လဲရာ မြက် ပြတ် သကဲ့သို့ ရှိချေတော့မည်"

ထို့နောက် နပိုလီယန်သည် တပ်ရေးချုပ် ဗလရှေ့ ကို သနားကြင်နာစွာ ကြည့်လျက်ရှိ၏။ တပ်ရေးချုပ် ဗလရှေးက တစ်စုံတစ်ရာ ပြောရန် ပြင်လိုက် သည်နှင့် တစ်ပြိုင်နက် နပိုလီယန်သည် စကားကို ဆက်လိုက်ပြန် သည်။

"သင်တို့ကေရာဇ်သည် ငါနှင့်မှ မိမိအလို ပြီးနိုင် သည်ကို မသိသလော" နပို လီယန်က ပခုံးတွန့်၍ ဆို ၏။ "ယခုမူကား သင်တို့ကေရာဇ်သည် ငါနှင့် မဟာမိတ် ဖွဲ့ခြင်းထက် ငါ၏ရန်သူများနှင့် ပေါင်း၍ ငါ့အား လုပ် ကြံချေသည်။ ငါ၏ရန်သူများ ကို စုရုံးသိမ်းသွင်းချေသည်။ သင်တို့ ကေရာဇ်၏အပါးတွင် ခစားလျက် ရှိသူများ သည် ငါ၏ရန်သူများသာ ဖြစ်ချေသည်။ သင်တို့ ကေရာဇ်သည် စတိန်း၊ အမ်းဖဲ၊ ဘင်နစ်ဆန်၊ ဝန်ဇင်ဂျီရိုဒီ စသည့် ငါ၏ ရန်သူများကို ဗိုလ်ချုပ်၊ ဗိုလ်မှူး၊ စစ်ဦး စစ်ကဲ ခန့်ကာ ငါ့ကိုတိုက်ရန် ကြံစည်သည်။ စတိန်းကား သင်း၏ တိုင်းပြည်မှ နှင်ထုတ်ခြင်းခံရသော သစ္စာဖောက်ဖြစ်သည်။ ( အမ်းဖဲကား လူသွမ်းလူကြမ်း

ဖြစ်၍ အရှင်သခင်ကို မကောင်းကြံစည်သူ ဖြစ်သည်။ ဝန်ဇင်ဂျီရိုဒီကား ပြင်သစ်သစ္စာတော်ခံမှ ထွက်ပြေးသော ရာဇဝတ်ကောင်တစ်ဦး ဖြစ်သည်။ ဘင်နစ်ဆန်ကား အခြားသူများနှင့်စာလျှင် စစ်ရေးစစ်ရာတွင် ကျွမ်းကျင်သော စစ်သားကောင်းတစ် ယောက်ဟု ဆိုနိုင်သည်။ သို့တိုင်အောင် ၁၈၀၇-ခုနှစ် စစ်ပွဲ၌ကား စစ်ဆုတ်ခြင်းမှအပ အခြား ဘာကိုမျှ မလုပ် တတ်သူဖြစ်ရာ စစ်သူကြီးကောင်းတို့ အင်္ဂါမပြည့်စုံသူ ဖြစ်သည်။ သင်းကို သူကောင်းပြုခြင်းကြောင့် သင်တို့ ဧကရာဇ် ၁၈၀၇-ခုနှစ် စစ်ပွဲက အရေးနိမ့်ခြင်းကို တွေး မိလျှင် စိတ်ဝမ်းငယ်ခြင်း ဖြစ်ရုံသာရှိတော့သည်။ သင်း တို့သည် တစ်ဖက်ဖက်က အရည်အချင်းနှင့်ပြည့်စုံ၍ သင်တို့ ဧကရာဇ်က အသုံးပြု သူကောင်းမြှောက်သည်ဆို လျှင် ငါ ဘာမျှပြောဖွယ်မရှိ”

လူတစ်ယောက်သည် မိမိ၏နှုတ်မှ တစ်စုံတစ်ရာ ထုတ်ဖော်ပြောဆိုခြင်း ပြုရာ၌ မည်သည့်အရာကို ပြောဆို မည်ဟူသော အကြောင်းအရာကို ခေါင်းထဲတွင် ပထမ စဉ်းစားရ၏။ သို့စဉ်းစားပြီးနောက် သင့်လျော်ရာ စကား လုံးကို ရွေးချယ်ရသေးသည့်အတွက် စကားရှည်ရှည် ပြောသည့်အခါ၌ စိတ်ကူးနှင့် နှုတ်ထွက်စကား ကြားတွင် ကတ္တားခြားနေသော ကာလအပိုင်းအခြားဟူ၍ ရှိတတ်၏။ နပိုလီယန်ကား ဤသို့မဟုတ်ချေ။ ခေါင်းထဲတွင် အစဉ် တစိုက် ပေါ်လျက်ရှိသည့် စိတ်ကူးများနှင့် တစ်ပြိုင်တည်း စကားကိုလည်း နှုတ်မှထွက်နိုင်သူ ဖြစ်လေသည်။ နပို လီယန်သည် ဤသို့ဖြင့် ၎င်းသည် မည်မျှမှန်ကန်ကြောင်း၊ မည်မျှ စိတ်တန်ခိုးသတ္တိ အရာတွင် ထက်မြက်ကြောင်းကို သက်သေပြလျက်ရှိ၏။ (နပိုလီယန်၏အမြင်၌ စိတ်ကူး ခြင်းနှင့် ထိုစိတ်ကူးကို နှုတ်မှထွက်ခြင်းသည် တစ်ပြိုင် တည်းလုပ်၍ ရသောအလုပ်နှစ်ခုဟု ယူဆလျက်ရှိပါသည်။) နပိုလီယန်သည် အတွေးနှင့် နှုတ်ထွက်စကား ကြားထဲ တွင် ရပ်နားချိန်မပေးဘဲ ဆက်တိုက်ပြောလျက် ရှိလေသည်။

"ယခုကား သင်တို့ကေရာဇ်သည် မည်သည့်ဘက် ကမှ အရည်အချင်း မပြည့်ဝသူများကို သူကောင်း ပြု ထားချေသည်။ သင်တို့ကေရာဇ် လက်ရုံးတစ်ဆူ သဖွယ် အားကိုး၍ သူကောင်းပြုခြင်း ခံရသူတို့ကား စစ်ဖြစ်နေ ချိန်၌လည်း အသုံးမကျ၊ ငြိမ်းချမ်းရေး ကာလ၌လည်း အသုံးမဝင်သူများချည်းသာ ဖြစ်ချေသည်။ သင်းတို့အနက် ဘာကလေ တစ်ဦးတည်းသာလျှင် အရည်အချင်းနှင့် ပြည့်စုံသည် ဟု ဆိုကြ၏။ သို့တိုင်အောင် ငါ့အမြင်၌ကား ယခုအခြေအထိ သင်းလည်း ပြောသလောက် မဟုတ်သေး။ သင်တို့ကေရာဇ်၏ လက်ရုံးကြီးများအဖြစ် သူကောင်းပြုခြင်း ခံရသော သင်တို့တတွေသည် မည်သည့်အမှုတွင် ကျွမ်းကျင်သနည်း။ ဖုဝဲလ်ကား အကြံပေးရုံမျှလောက်သာ တတ်ကျွမ်းသူဖြစ်သည်။ အမ်းဖဲကား ငြင်းခုံခြင်း၌သာ လိမ္မာသူဖြစ်သည်။ ဘင်နစ်ဆန်ကား စဉ်းစားခြင်းကိုသာ တတ်မြောက်သူ ဖြစ်သည်။ ဘာကလေကား စေခိုင်းရုံ လောက်ကိုသာ လုပ်တတ်သူဖြစ်၍ ကြံရည်ဖန်ရည် သင့် မသင့် တော်မတော်ကို တွေးချင့်ထောက်မျှော်နိုင်သော အရည်အချင်း မရှိ။ အကျိုးမဲ့ အရာမထင်ဘဲ အချိန်ကို ဖြုန်းခြင်း၌သာ ကျွမ်းကျင်သူဖြစ်သည်။ သင်တို့ကေရာဇ် ၏အပါးတွင် ခစားကြသူများအနက် ဘာဂရေးရှင်း တစ်ဦး တည်းသာလျှင် ဘုန်းလက်ရုံးနှင့် ပြည့်စုံသော တော်လှ စွာသော စစ်သားကောင်းတစ်ဦး ဖြစ်ချေသည်။ ဘာဂရေး ရှင်းကား မဆင်မခြင်ပြုတတ်သည်မှန်စေ အတွေ့အကြုံ ရှိသူ ဖြစ်သည်။ ထက်မြက်သူ ဖြစ်သည်။ ရဲရဲရင့်ရင့် ဆုံး ဖြတ်ဝံ့သူ ဖြစ်သည်။ သင်တို့ ကေရာဇ်သည် ဤမျှ ကြောက်ဖွယ်ကောင်းလောက်အောင် ညံ့ဖျင်းသော အခြေ့ အရုံများ၊ ဗိုလ်ချုပ် ဗိုလ်မှူး၊ စစ်ဦး စစ်ကဲများအားကိုးဖြင့် ငါ့ကို ယှဉ်ပြိုင် စစ်ထိုးမည်ဆိုခြင်းကို ငါအံ့ဩသည်။ သင်းတို့ကား စစ်မြေတွင် သူ့အသက်ကို သတ်ရဲ၍ မိမိ အသက်ကို စွန့်လွှတ်ရဲသော စစ်သူကြီးများ မဟုတ်။ မင်းလိုလိုက် မင်းကြိုက်ဆောင်၍ မင်းကေရာဇ်အား သင့်တင့်လျောက်ပတ်အောင် ခစားကာ အရေးကြီးငယ် ကြုံလာသည်နှင့် မင်းကေရာဇ်၏ ခေါင်းပေါ်သို့ ရှိသမျှ

အပြစ် စုံပုံပြီးနောက် တာဝန်မှ ရုန်းထွက်ပြေးကြသူ ကပ်ပါးများသာ ဖြစ်ချေသည်။ တပ်ရေးချုပ်၊ သင်တို့ ဧကရာဇ်သည် မိမိ၏အမှားကို မသိသလော။ မင်းဧကရာဇ် တို့မည်သည် စစ်သေနာပတိချုပ်၏ အရာကို မခံယူလျှင် တပ်တော်များနှင့်အတူ စစ်မြေသို့ ကိုယ်တော်တိုင် ချီတက် ခြင်း မပြုရာဟူသော ရာဇဝေါဒကျမ်းလာ မင်းတို့၏ မကျင့်ရာသည်များကို သင်တို့ဧကရာဇ် မသိသလော”

နပိုလီယန်က ရုရှားဧကရာဇ် အလက်ဇန်းဒရားကို အရေးတောင်းသည့်ပမာ ပြောဆိုလိုက်၏။ အလက်ဇန်း ဒရားဘုရင်သည် စစ်သေနာပတိတစ်ဦး ဖြစ်လိုလျက်ရှိခြင်း ကို သိ၍ နပိုလီယန်က လှောင်ပြောင်ပြောလိုက်ခြင်း ပေတည်း။

“ငါသည် လွန်ခဲ့သည့် ရက်သတ္တပတ်ခန့်ကမှ စစ်ချီလာသည်။ သို့စင်လျက် သင်တို့သည် ဝီလမှာကဲ့သို့ မြို့ကလေးကိုပင် ကာကွယ်ခြင်းမပြုနိုင်ဘဲ ဆုတ်ခွာပြေးခဲ့ ကြသည် မဟုတ်လော။ သင်တို့တပ်များသည် ခါးလယ်မှ ရိုက်ချိုးခြင်း ခံရသကဲ့သို့ နှစ်ပိုင်းပြတ်ကာ ပိုလန်ပြည်မှ ထွက်ပြေးကြရပြီ မဟုတ်လော။ သင်တို့တပ်တော်ကြီး သည် ယခု အအုပ်အစည်းပျက်လျက် ရှိပြီမဟုတ်လား”

“ကျွန်တော်တို့၏ တပ်တော်များ အအုပ်အစည်း ပျက်နေကြပြီဆိုခြင်းမှာ မဟုတ်ပါ” တပ်ရေးချုပ် ဗလရှေ့ က နပိုလီယန်၏ စကားအကုန်အစင်ကို သတိမရဘဲ နပိုလီယန်၏ မီးရှူးမီးပန်း ဖောက်သကဲ့သို့ ခြောက်လှန့် ကြွားဝါသော စကားခြိမ်းများကို မမီတမီလိုက်၍ ပြော၏။ “အအုပ်အစည်း မပျက်ကြရုံမျှမက ကျွန်တော်တို့၏ တပ်မတော်များသည် စစ်သွေးစစ်မာန် ဇာတိသွေး ဇာတိ မာန်ဖြင့်”

“ဥပါယ်တံမျဉ် စကားမဆိုလင့် တပ်ရေးချုပ်။ အရာခပ်သိမ်းကို ငါသိသည်သာ ဖြစ်သည်။ ငါသည်ငါ့ တပ်ရင်းများ၏ အရေအတွက်ကို သိသကဲ့သို့ သင်တို့တွင် တပ်ရင်းမည်မျှ ရှိသည်ကိုလည်း ငါသိသည်။ သင်တို့၌ စစ်သည်နှစ်သိန်းပင် မ

ရှိ။ ငါ၌ သုံးဆများပြားသော စစ် သည်တို့ရှိပြီ။ ယခု ဝီလနာမြို့ ဘက်ကမ်းသို့ ရောက်နေ သော စစ်သည်တို့ကား ငါးသိန်းသုံးသောင်းမျှ ရှိချေ သည်။ သင်တို့ တူရကီနှင့် မဟာမိတ်ဖွဲ့ သော်လည်း တူရကီထံမှ မည်သည့်ကူညီ စောင်မခြင်းကို မျှ ရဖွယ်မရှိ။ တူရကီတို့သည် မည်သည့် အရည်အချင်းမျှ ရှိသောလူမျိုး မဟုတ်။ တူရကီတို့၌ မည်သို့သော အရည်အချင်းမျှ မရှိခြင်းကို သင်တို့နှင့် လာ၍ ငြိမ်းချမ်းရေးစာချုပ်ချုပ် ခြင်းကပင် သက်သေခံလျက် ရှိပြီ။ သင်တို့၏ မဟာမိတ် ဖြစ်သော ဆွီဒင်လူမျိုး ဆိုသည်မှာလည်း ဘာမျှ တန်ဖိုး မရှိသော လူမျိုးမျှသာ ဖြစ်သည်။ ဆွီဒင်လူမျိုးသည် သူရူးကို မင်းမြှောက်တတ်သော လူမျိုးမျှသာ ဖြစ်သည် မဟုတ်လော။ ဆွီဒင်လူမျိုးတို့၏ ယခင် မင်းသည် သူရူး မဟုတ်လော။ ထို့ကြောင့် သင်တို့ ဆွီဒင်လူမျိုး နောက် မင်းတစ်ပါးကို တင်မြှောက် ကြသည် မဟုတ်လော။ သင်းတို့တင်သော ဘုရင် ဘာနဒေါ့ဒေါ့သည်လည်း နောက်၌ ရူးသွပ်ပြီ မဟုတ်လော။ ဆွီဒင်ဘုရင်သည် သင်တို့ ဧကရာဇ် နှင့်မဟာမိတ်ဖွဲ့ခြင်းဖြင့် ရူးသွပ် ကြောင်းကို ပြခဲ့ပြီ မဟုတ် တုံလော အသင် တပ်ရေးချုပ်။ ဤအချိန်၌ သင်တို့ ဧကရာဇ်နှင့် မဟာမိတ် ပြုသူကိုမှ သူရူးဟု မခေါ်လျှင် အဘယ်သူကို သူရူးခေါ်ရ အံ့နည်း။

နပိုလီယန်သည် ဒေါသတကြီးဖြင့် အံကြိတ်၍ ပြောလိုက်ပြီးနောက် ရှူဆေး ကို နှာဝတွင်တေ့၍ ရှူလိုက် ပြန်သည်။

တပ်ရေးချုပ် ဗလရှေသည် နပိုလီယန်၏ စကား လုံးတိုင်းအား မည်သို့ချေပ ရမည်ကို သိ၍ ပြန်လည်ချေပ ရန် ဟန်ပြင်လိုက်တိုင်း နပိုလီယန်က ကြား ဖြတ်၍ပြောဆို သွားသည်သာ ဖြစ်၏။ ဆွီဒင်လူမျိုးများအား သူရူးဟုစွပ်စွဲ သည့် ကိစ္စ၌လည်း ရုရှားနိုင်ငံသည် ဆွီဒင်နှင့် မဟာမိတ် ဖွဲ့ခြင်းကြောင့် မိမိ၌ အကျိုးအမြတ် မရှိ။ ဆွီဒင်နိုင်ငံမှာ သာ အကျိုးကျေးဇူးရှိသည်ဟု ပြောလိုလှ သော်လည်း နပိုလီယန်မှာ တပ်ရေးချုပ် ဗလရှေ၏အသံကို လွှမ်းသွား အောင်

အော်ဟစ်ပြောဆိုလျက် ရှိသည့်အတွက် မပြောသာ တော့ချေ။ လူတစ်ယောက်သည် မိမိပြောလျက်ရှိသော စကားများကို မှန်ကန်ခိုင်မြဲခြင်းကို မိမိဘာသာ မိမိယုံကြည် ခြင်း မရှိသည့်အခါများ၌ မိမိကိုယ်နှိုက်က ယုံကြည်လာ အောင် ထိုစကားများကို ဒေါသတကြီးဖြင့် ထပ်တလဲလဲ ပြောဆိုတတ်လေ့ရှိရာ နပိုလီယန်သည်လည်း မိမိ၏စကား များကို ဒေါသကြီးစွာဖြင့် ထပ်ပြန်တလဲလဲ ပြောဆိုလျက် ရှိ၏။ တပ်ရေးချုပ် ဗလရှေ့မှာ စိတ်တိုလျက်ရှိလေပြီ။ သံတမန်တစ်ဦးအနေဖြင့် ကြည့်လျှင် နပိုလီယန်ပြောသမျှ ကိုသာ နားထောင်နေပါက မိမိ၌ သံတမန်တို့ရှိအပ်သော ဂုဏ်သိက္ခာဟူ၍ ရှိတော့မည်မဟုတ်ခြင်းကိုလည်းကောင်း၊ သံတမန်တို့၏ ထုံးတမ်းစဉ်လာအရ ဆိုရေးဆိုခွင့်ရှိသည် များကိုပြောဆိုရန် လိုအပ်ခြင်းကိုလည်းကောင်း သဘော ပေါက်လာခဲ့လေသည်။ သို့သော်လည်း လူတစ်ယောက် အနေဖြင့်ကား တပ်ရေးချုပ် ဗလရှေသည် အကြောင်းမဲ့ ဖြစ်သော အမျက်ဒေါသတို့ ဖုံးလွှမ်းလျက်ရှိသည့် နပို လီယန်၏ရှေ့တွင် မည်သို့မျှ မပြောရဲဘဲ ပြားပြားဝပ်လျက် ရှိလေသည်။ ယခု အချိန်၌ နပိုလီယန်ပြောဆိုလျက် ရှိသည့်စကားများသည် များစွာ အဓိပ္ပာယ်မရှိလှတော့ဘဲ စိတ်လိုက်မာန်ပါ ပြောလျက်ရှိခြင်းမျှသာ ဖြစ်သည်ကို လည်းကောင်း၊ ခေါင်းအေးအေးဖြင့် ပြန်စဉ်းစားလိုက်သည့် အခါတွင် နပိုလီယန်သည် မိမိ၏ စကားများအတွက် အရှက်ရလျက်ရှိမည်ကို လည်းကောင်း တပ်ရေးချုပ် ဗလရှေ ကောင်းစွာ သိလေသည်။ သို့ဖြင့် ဗလချေသည် ခေါင်းငုံ့၍ မျက်လွှာကိုချလျက် နပိုလီယန်၏ တုတ်ခိုင် တိုတောင်းသော ခြေထောက်များကို ငုံ့ကြည့်ကာ မျက်လုံး ချင်း မဆိုင်မိအောင် မျက်နှာကို တမင်လွှဲထားရင်း ရပ် လျက်ရှိလေသည်။

"သင်၏ ကေရာဇ်မင်းသည် မည်သူနှင့် မဟာမိတ် ဖွဲ့စေ၊ ငါ ဂရုမပြု။ ငါ့၌လည်း မဟာမိတ်ရှိသည်သာ ဖြစ်သည်။ ပိုလန်လူမျိုးတို့သည် ယခု မဟာမိတ်ဖြစ် လျက် ရှိချေပြီ။ ယခုပင် ပိုလန်စစ်သည်ရှစ်သောင်းတို့ ငါ့ကွပ်ကဲမှုအောက်တွင်

ရောက်လျက်ရှိလေပြီ။ ပိုလန် တို့ကား စစ်တိုက်ခြင်းတွင် ကေသရာဇာခြင်္သေ့ကဲ့သို့ ရဲရင့်သည်ကို သင် သိသည်မဟုတ်လော။ ပိုလန်ပြည်မှ တပ်သားပေါင်း နှစ်သိန်းမျှ နောက်ထပ် စုဆောင်းဦးမည် ကို သင်တို့မသိသလော”

နပိုလီယန်သည် မိမိ၏ မုသားစကားကြောင့် မလုံမလဲဖြစ်လျက်ရှိခြင်း၊ မိမိ ရှေ့တွင် ကံကြမ္မာလက်သို့ ဇကွက်ထားသည့်ဟန်ဖြင့် မလှုပ်မယှက် ရပ်လျက်ရှိ သော ရုရှား တပ်ရေးချုပ် ဗလရေကို အားမလို အားမရဖြစ်ခြင်း တို့ကြောင့် ဒေါသ ထွက်လာကာ ချာခနဲ လှည့်လိုက်၍ တပ်ရေးချုပ် ဗလရှေ၏မျက်နှာကို ဆွဲမော့ လိုက်ပြီး ဖြူ ဖွေးသော လက်များကို ထောင်ပြလိုက်ကာ အသံကျယ် ကျယ်ဖြင့်

”သင်တို့ ဧကရာဇ်သည် ပရပ်ရှားနိုင်ငံကို အားပေး  အားမြှောက်ပြု၍ ငါ့ အား ထောင်ထားခြားနားအောင် ပြု အံ့၊ ပရပ်ရှားနိုင်ငံကို ဥရောပမြေပုံပေါ်မှ ပျောက်သွားအောင် ငါချေဖျက်ပစ်မည်ကို သတိချပ်ကြလေ” နပိုလီယန်က ကြုံးဝါးလိုက်၏။ နပိုလီယန်၏ မျက်နှာသည် ဖြူရော် လျက်ရှိ၍ ဒေါသအမျက်ဖြင့် ရှုံ့မဲ့လျက်ရှိ၏။ နပိုလီယန် သည် သေးငယ်သော လက်ဖဝါးများကို တစ်ခုနှင့်တစ်ခု ဖြန်းခနဲနေအောင် ရိုက်လိုက်ရင်း

”သင်တို့ ဧကရာဇ်ကို တင်လျှောက်လေ၊ သင်တို့ အား ဒဗီနာမြစ်နှင့် ဒနီပါ မြစ် တစ်ဖက်ကမ်းသို့ရောက် အောင် မောင်းထုတ်အံ့၊ ဤပိုလန်ပြည်နယ်ကြီး၏ နယ် နိမိတ်ကို ကျော်၍လာရဲလျှင် လာကြလော့။ ငါ၏တပ်များ တပ်စွဲလျက်ရှိ သော ပိုလန်နယ်နိမိတ်ကို ကျူးကျော်လာသူ အား ဥရောပ၏ ရာဇဝတ်ကောင်ဖြစ် စေအံ့။ ဟယ် တပ် ရေးချုပ်။ ငါ့အား ထောင်ထားခြားနားကာ အရေးတောင်း ခြင်း ဖြင့် သင်တို့ဧကရာဇ်သည် ဥရောပ၏ ရာဇဝတ်သား တစ်ဦးဖြစ်မည်ကို မသိ သလော”

ဤသို့ ပြောဆို ကြုံးဝါးပြီးနောက် နပိုလီယန်သည် မည်သို့မျှ မပြောတော့ဘဲ ဧည့်ခန်းဆောင်ထဲတွင် အကြိမ် ပေါင်းများစွာ လမ်းလျှောက်လျက် ရှိသည်။ နပိုလီယန်၏ ဆူဖြိုးသော ပခုံးသားများသည် တဆတ်ဆတ်တုန်လျက် ရှိကြ၏။ . ။

နပိုလီယန်သည် ရှူဆေးဘူးကို ခါးပြတ် ကိုယ် ကျပ်အင်္ကျီအိတ်ထဲသို့ ထည့်လိုက်သည်။ ထို့နောက် ပြန် ထုတ်ကာ နှာဝသို့ ကြိမ်ဖန်များစွာ တေ့လိုက်လျက် တပ် ရေးချုပ် ဗလရှေ၏ရှေ့တွင် ရပ်လိုက်သည်။ နပိုလီယန် သည် ရှေ့တွင်ရပ်လျက် တပ်ရေးချုပ် ဗလရှေ၏ မျက်လုံး များဆီသို့ ခပ်လှောင်လှောင် စိုက်ကြည့်လိုက်ပြီးနောက် တည်ငြိမ်အေးဆေးသော အသံဖြင့်

"သို့တိုင်အောင် အချိန်ရှိသေးသည် တပ်ရေးချုပ်၊ သို့မဟုတ်က သင်တို့ တိုင်းသူပြည်သားတို့ တောင်လဲရာ မြက်ပြတ်သကဲ့သို့ ဖြစ်ကြမည်"

တပ်ရေးချုပ် ဗလရှသည် သံတမန်တို့၏ ကျင့် ဝတ်နှင့်အညီ တစ်စုံတစ်ရာ ပြန်ကြားပြောဆိုရန် ဝတ္တရား ရှိသည်ဟု ယူဆသည့်အတိုင်း မိမိတို့အခြေအနေမှာ နပို လီယန် ပြောသလောက် မဆိုးသေးကြောင်းဖြင့် ပြန်လည် ပြောဆိုခြင်း ပြုလေသည်။ နပိုလီယန်သည် တပ်ရေးချုပ်  ဗလရှ၏ စကားများကို နားထောင်ဟန် မပြုဘဲ လှောင် ပြောင်သော မျက်လုံးများဖြင့် တပ်ရေးချုပ် ဗလရှေ့ကိုသာ စူးစိုက်ကြည့်လျက် ရှိလေသည်။ ရုရှားနိုင်ငံကမူ ဤစစ်ပွဲ တွင် ရုရှားတို့နိုင်မည်ဟု ယုံကြည်လျက်ရှိကြောင်းဖြင့် တပ်ရေးချုပ် ဗလက ပြောဆိုလိုက်သည်။ နပိုလီယန်သည် နိဂါတ တရားကို ပြလိုသည့်ဟန်ဖြင့် ခေါင်းကို တဆတ်ဆတ်ညိတ်လျက်နေလေရာ ၎င်း၏အမူအရာမှာ အသင် တပ်ရေးချုပ်၊ သံတမန်တို့မည်သည် ဤသို့ ပြောမြဲဓမ္မတာ၊ သင်သည် ငါ့စကားကို ယုံကြည်လျက်နှင့် မယုံကြည်လေဟန် ပြုသည်။ သင့်ကေရာဇ်၏အင်အားကို မယုံကြည်လျက်နှင့် ယုံကြည်လေဟန် ပြုသည်။ ဤသည် ကို ငါသိသည်"ဟု ထုတ်ဖော်ပြောဆိုသကဲ့သို့ ရှိလေသည်။

တပ်ရေးချုပ် ဗလရှု၏စကားဆုံးသောအခါ၌ နပိုလီယန်သည် ရှူဆေးဘူးကို ထုတ်၍ ရှူလိုက်ပြန်သည်။ ထို့နောက် တစ်စုံတစ်ရာကို အချက်ပေးသည့်ဟန်ဖြင့် ကြမ်းပြင်ကို ဖနောင့်ဖြင့် နှစ်ချက်ပေါက်လိုက်သည်တွင် တံခါးပွင့်၍ လာပြီး နောက် လူပျိုတော်သားတစ်ယောက် သည် ဦးညွတ်ခစားလျက် ဝင်ရောက်လာ ကာ လက်စွပ် အိတ်နှင့် ဦးထုပ်ကို နပိုလီယန်သို့ ရိုသေစွာ ဆက်သ၏။ အခြားတစ် ယောက်က ချွေးသုတ်ပဝါတစ်ထည်ကို ယူ ဆောင်လာလေသည်။ နပိုလီယန်သည် လူပျိုတော်သားနှစ် ဦးကို လှည့်၍မကြည့်ဘဲ တပ်ရေးချုပ် ဗလရှေ့ဘက်သို့ လှည့် လိုက်ပြီး “

“သင်၏ ဧကရာဇ်ကို လျှောက်လေ” နပိုလီယန်က ဦးထုပ်ကို လှမ်းယူလိုက် သည်။ “ငါသည် ညီတော်ဧကရာဇ် နှင့် ယခင်ကကဲ့သို့ သဟာယ မဟာမိတ်အဖြစ် ချစ်ကြည် စွာ နေလိုသည်။ နှစ်ပြည့်တစ်ပြည် မီးမသေ ရေမနောက် ရွှေတစ်ပြား တည်းပမာ ရှိစေလိုသည်။ ဤသို့ ငါမှာကြောင်း ကို လျှောက်လေ၊ ငါသည် ညီ တော် အလက်ဇန်းဒရား ဘုရင်မင်းမြတ်၏ စိတ်သဘောကို ကောင်းစွာသိ၍ ညီ တော် ၏ မြင့်မြတ်သော အရည်အချင်းတို့ကို ငါများစွာ နှစ်သက် ခြင်းဖြစ်သည် တပ်ရေးချုပ်။ သင့်ကို ဤထက်လွန်၍ကား ဆီးတားခြင်းငှာ မထိုက်ပြီ။ သင့် ဧကရာဇ်ထံ ပေးပို့သော စာချွန်ကို သင့်ထံ ငါပို့စေမည်”

ထို့နောက် နပိုလီယန်သည် တံခါးဆီသို့ လျင်မြန် စွာ ထွက်သွားလေသည်။ ထိုခဏ၌ ဧည့်ခန်းဆောင်ထဲတွင် ရှိသူအပေါင်းတို့သည် အပြင်သို့ တစ်ဟုန်ထိုး ထွက်ပြေးကြ ကာ လှေကားတစ်လျှောက်အတိုင်း ပြေးဆင်းလိုက်ပါသွား ကြလေ သတည်း။

## အခန်း ၇

ဤသို့ဖြင့် နပိုလီယန်သည် ဒေါသအမျက်ခြောင်းခြောင်း ဖြင့် ပြောဆိုခြင်း၊ "သင့်အား ဤထက်လွန်၍ တားဆီး ခြင်းငှာ မထိုက်ပြီ၊ သင့်ကေရာဇ်ထံ ပေးပို့ သော စာချွန်ကို ငါပို့စေမည်"ဟု ပြောဆိုခြင်းတို့ကို ထောက်၍ နပိုလီယန် သည် မိမိအား ထပ်မံတွေ့ဆုံလိုခြင်း မပြုလိုတော့ပြီ၊ မိမိသည် မချေမငံပြုမူခြင်း ခံရ သော သံတမန်တစ်ဦး ဖြစ်ခဲ့ရချေပြီဟု တပ်ရေးချုပ် ဗလရှေ၏စိတ်တွင် ထင်မှတ် လျက် ရှိလေသည်။ သို့သော်လည်း ထိုနေ့၌ပင် ပြင်သစ် ကေရာဇ်ဘုရင် နပိုလီယန် ထံမှ မိမိနှင့်အတူ ညစာ လာ ရောက်စားရန် ဖိတ်ကြားချက်ကို အမတ်ချုပ် ဒူးရော့ မှ တစ်ဆင့် ရရှိသောအခါ တပ်ရေးချုပ် ဗလရှေ့မှာ အံ့အား သင့်၍ သွားမိလေ သည်။

ထိုနေ့ည ညစာစားပွဲ၌ ပြင်သစ်စစ်သူကြီး ဘက်ဆီ ရေး၊ ပြင်သစ် စစ်သူကြီး ဖြစ်၍ ပီတာစဘတ် ရွှေမြို့တော် ၌ နပိုလီယန်၏ သံတော်ကြီးအဖြစ် အမှုတော် ထမ်းခဲ့ဖူးသူ ကော်လိန်ကူးနှင့် ပြင်သစ်စစ်သူကြီး ဘာသီးယားတို့လည်း တက် ရောက်ကြသည်။

နပိုလီယန်သည် တပ်ရေးချုပ် ဗလရှေ့ကို ရွှင်လန်း အားရစွာ ဆီးကြို၏။ န ပိုလီယန်သည် နံနက်က ဒေါသ တကြီး အော်ဟစ်ပြောဆိုခဲ့ခြင်းအတွက် မျက်နှာထားတင်း ခြင်း၊ အနေကျုံ့ခြင်းတို့ မရှိတော့သည့်အပြင် တပ်ရေးချုပ် ဗလ ရှေအား နှစ်သိမ့်ဖျောင်းဖျသော အသွင်ကိုဆောင်လျက် ရှိလေသည်။ နပိုလီယန် သည် လောက၌ မိမိပြုသော အမှု တစ်ခုသည် မည်သည့်အခါမျှ မမှားနိုင်ဟု ယူဆ ထားဟန် လက္ခဏာ ရှိလေသည်။ ၎င်း၏အမြင်၌ မိမိပြုသော အမှု ဟူသမျှသည် အမှန်ချည်းသာ ဖြစ်သည်။ ထိုသို့မှန်သည်ဟု ယူဆခြင်းမှာ မှားခြင်း မှန်ခြင်းဟု လူအများက ဆုံးဖြတ် ထားသော စံများနှင့် ကိုက်ညီခြင်းကြောင့် ယူဆခြင်း

မဟုတ်။ မိမိပြုလုပ်ခြင်းကြောင့်သာ မှန်ခြင်းဖြစ်သည်ဟု ယူဆသောလူမျိုး ဖြစ်ချေသည်။ သည်။

ထိုနေ့နံနက်၌ နပိုလီယန်သည် တပ်ရေးချုပ် ဗလရှေ့နှင့် တွေ့ဆုံပြီးနောက် ဝီလနာမြို့ထဲသို့ မြင်းစီးထွက် တော်မူခဲ့ရာ အလွန်အကြူး ပီတိဖြစ်လျက်ရှိသော မြို့သူ မြို့သားများသည် တစ်ခဲနက်မျှ ကောင်းချီးသြဘာပေးကြ လျက် နောက်မှ လိုက်ပါလာကြသည်ကို မြင်ရ၏။ ထို အချိန်ကတည်းက နပိုလီယန်မှာ ကြည်လင်ရွှင်ပျလျက် ရှိခဲ့လေသည်။ နပိုလီယန် မြင်းစီးထွက်လာသည့် လမ်းတစ် လျှောက်ရှိ အိမ်များတွင် တံခွန်များ၊ အလံများ၊ နပိုလီယန် ၏ ရုပ်ပုံများကို လွှင့်ထူထားကြလျက် နပိုလီယန်အား ဆီးကြိုကြသော ပိုလန်အမျိုးသမီးများကလည်း နပိုလီယန် သွားရာ လမ်းတွင် မိမိတို့ပဝါများကို ဖြန့်ခင်းထားကြ ညစာစားပွဲ၌ နပိုလီယန်သည် တပ်ရေးချုပ် ဗလရှေ့ အား မိမိအနီးတွင် ထိုင်စေ၏။ နပိုလီယန်သည် တပ်ရေး ချုပ် ဗလရှေအား ချစ်ကြည်စွာ ပြုစုဆက်ဆံရုံမျှမက မိမိ၏ နန်းတော်သားတစ်ဦး၊ မိမိအကျိုးကို လိုလားသူ တစ်ဦးကဲ့သို့ သဘောထား၍ ဆက်ဆံခြင်းကိုလည်း တွေ့ရလေသည်။ ညစာစားရင်း စကားစမြည် ပြောကြရာ၌ နပိုလီယန်က မော်စကိုမြို့အကြောင်းနှင့် ပီတာစဘတ် ရွှေမြို့တော်တို့ အကြောင်းများကိုလည်း မေးမြန်းစုံစမ်းခြင်း ပြုလေသည်။ သို့ရာတွင် ဤသို့ မေးမြန်းစုံစမ်းရာ၌ နပို လီယန်၏ မေးမြန်းစုံစမ်းပုံမှာ ခရီးသည်တစ်ဦးက မိမိ သွားရောက်လည်ပတ်အံ့သော အရပ်ဒေသတစ်ခုအကြောင်း ကို မေးမြန်းသကဲ့သို့သော သာမန် မေးမြန်းခြင်းမျိုးမဟုတ် ဘဲ ယခုကဲ့သို့ မိမိက အရေးတယူ မေးမြန်းခြင်းကြောင့် ရုရှားလူမျိုး တစ်ယောက်ဖြစ်သော တပ်ရေးချုပ် ဗလရှေ့ သည် ဂုဏ်ယူဝမ်းမြောက်ခြင်း ဖြစ်မည်ကေန်ဟူသော ယုံကြည်ချက်ဖြင့် မေးမြန်းခြင်းမျိုး ဖြစ်လေသည်။

“မော်စကိုမှာ လူဦးရေမည်မျှရှိသလဲ မောင်မင်း၊ လူနေအိမ်ခြေဦးရေကော မည်မျှလဲ၊ မော်စကိုမြို့ကို “မြင့် မြတ်သော မော်စကို ခေါ်သည်ဟု ကြားဖူးသည်။ ထို အတိုင်း မှန်သလော။ မော်စကိုတွင် ဘုရားဝတ်ကျောင်း တို့ မည်မျှရှိသလဲ မောင်မင်း”

နပိုလီယန်က မေး၏။ မော်စကို၌ ဘုရားဝတ် ကျောင်းနှင့် သုခမ္မာဇရပ် ပေါင်း နှစ်ရာကျော်ရှိသည်ဟု ကြားရသောအခါ၌ နပိုလီယန်က

”အလို၊ များလှချေကလား တပ်ရေးချုပ်၊ ဘောက် မဲ့ကြောင့် ဤမျှလောက် များပြားရသတုံး”

“မှန်လှပါ၊ ရုရှားလူမျိုးများသည် ဘုရားတရား ရိုသေကိုင်းရှိုင်းသော လူမျိုး ဖြစ်ပါသည် အရှင်ဘုရား”

“ဘုရားစေတီများ၊ ဘုန်းကြီးကျောင်းများ ပေါများ ခြင်းကား ခေတ် နောက်ကျသော လူမျိုးတစ်မျိုး၏ လက္ခဏာတစ်ခု ဖြစ်ပေသည်” နပိုလီယန်က ဤသို့ဆိုကာ ချီးမွမ်းသြဘာပေးခြင်းကို တောင်းခံသည့်အနေဖြင့် စစ်သူ ကြီး ကော်လိန်ကူးကို လှည့်ကြည့်လိုက်သည်။

တပ်ရေးချုပ် ဗလရှေသည် မရဲတရဲဖြင့် ပြင်သစ် ဧကရာဇ်ဘုရင် နပိုလီ ယန်၏စကားကို ပြန်လည်ချေပ လိုက်သည်။

“မှန်လှပါ၊ နိုင်ငံတိုင်း လူမျိုးတိုင်း၌ မိမိတို့၏ သီးခြားသော အသွင်လက္ခဏာ များ ရှိကြောင်းပါဘုရား”

“နို့ပေမယ့် ဥရောပမှာတော့ ဤမျှ များပြားသော စေတီပုထိုး ကျောင်းကန် ဇရပ်ရှိတဲ့ တိုင်းပြည်ဟူ၍ မရှိပေ ဘူး၊ တပ်ရေးချုပ်ရဲ့”

"မှန်လှပါ၊ လျှောက်ထားဝံ့ပါသည် ဘုရား" တပ်ရေးချုပ် ဗလရှေက ပြော လိုက်သည်။ "ကျွန်တော် တို့၏ ရုရှားနိုင်ငံတစ်ခုတည်းသာ မဟုတ်ပါ။ စပိန်ပြည်၌ လည်း ပုထိုးစေတီ ကျောင်းကန်ဇရပ်များ ပေါများလှ ကြောင်းပါ ဘုရား" . တပ်ရေးချုပ် ဗလရှေးက မရဲတရဲ လျှောက်လိုက် ၏။ တပ်ရေးချုပ် ဗလရှေ့အဖို့ ဤစကားကို လျှောက်တင် ရန် မဝံ့ခြင်းကား အကြောင်းရှိလေသည်။ နပိုလီယန် သည် မကြာသေးမီက စပိန်သို့ ဝင်ရောက်တိုက်ခိုက်ရာ၌ အရေး နိမ့်လာခဲ့လေရာ "ဘုရားစေတီပေါများသော ခေတ်နောက် ကျသည့် နိုင်ငံဖြစ်လျက် ဧကရာဇ်ဘုရင် နပိုလီယန်သည် ထိုနိုင်ငံမျိုးကိုမျှ နိုင်အောင်မတိုက်နိုင်လေ´ဟူသော သဘော မျိုး ဖြင့် ပြောလိုက်ခြင်းဖြစ်၏။ မိမိက နပိုလီယန်အား ဤသို့ ပြန်လှန်ချေပခဲ့ကြောင်း ကို နောင်၌ ပီတာစဘတ် ရွှေနန်းတော်တွင် ပြန်၍လျှောက်တင်သောအခါ "တပ်ရေး ချုပ် တော်ပေသည်"ဟု ချီးမွမ်းထောမနာပြုခြင်း ခံရသော် လည်း ယခု နပိုလီယန်၏ ရှေ့မှောက်တွင်ကား တပ်ရေး ချုပ် ဗလရှေ၏ "သောလုံး"ကို မည်သူ ကမျှ အမှတ်မထား လိုက်မိကြချေ။ တပ်ရေးချုပ် ဗလရှေ့က ထိုစကားများကို ခပ် သော သော လေသံဖြင့် ပြောလိုက်သောအခါ၌ ပြင်သစ် စစ်သူ ကြီးများသည် အဘယ်ကြောင့် ရုရှားတပ်ရေးချုပ်သည် ခပ်သောသော ပြောရပေသနည်းဟု နားလည် စိတ်ဝင်စား ခြင်း မရှိသော မျက်နှာထားများဖြင့် ကြည့်လျက် ရှိ ကြလေ သည်။ "ဘယ့်နှယ်၊ တပ်ရေးချုပ် စကားကပဲ ရယ်စရာကောင်းလို့လား၊ ကျုပ်တို့က ပဲ မမြင်လို့လားတော့ မသိဘူး၊ မရယ်ရပါကလားဗျ"ဟု ၎င်းတို့၏မျက်နှာများက ပြောပြလျက် ရှိ၏။ နပိုလီယန်ကမူ တပ်ရေးချုပ်၏ ချေပ ပြောဆိုချက်ကို လုံးဝပင် သတိထားမိဟန်မရှိဘဲ ဤမှ မော်စကိုသို့ သွားလျှင် မည်သည့်မြို့များကို ဖြတ်သန်းသွား ခြင်းက အနီးဆုံး ဖြစ်မည်နည်းဟု မေးမြန်း၏။ ညစာ စားပွဲတွင် တပ်ရေးချုပ်ဗလရှေသည် အချက်ကျကျ ပြန် လည် ဖြေကြားရန် အဆင်သင့် ပြင် ထားသည့်အတိုင်း "လမ်းဟူသမျှသည် ရောမမြို့သို့ ဦးခိုက်လျက်ရှိသည်"ဟူ သော

စကားပုံအရ “လမ်းအားလုံးသည် မော်စကိုသို့ ဦး ခိုက်လျက် ရှိပါသည်”ဟု ပြန်လည်ဖြေကြားလိုက်သည်။

မော်စကိုသို့ သွားရာလမ်းများစွာရှိကြောင်း၊ ၎င်းတို့အနက် ပေါ်လ်တာဗာမှ ဖြတ်သန်းသွားသောလမ်းမှာ အကောင်းဆုံး ဖြစ်ကြောင်း ပြောကြားလျက်ရှိစဉ် စစ်သူကြီး ကော်လိန်ကူး က ပီတာစဘတ် ရွှေမြို့တော်တွင် သံတော်ကြီးအဖြစ် မိမိအမှုထမ်းစဉ်က ကြုံတွေ့ရပုံများနှင့်တကွ မော်စကိုနှင့် ပီတာစဘတ် ရွှေမြို့တော်သွား လမ်းမကြီးမှာ ကြမ်းတမ်း ဆိုးရွားလှကြောင်းဖြင့် ပြောပြလျက် ရှိလေသည်။

ညစာစားပြီးနောက်၌ ကော်ဖီသောက်ရန် နပို လီယန်၏ စာကြည့်ဆောင်ထဲသို့ ပြောင်းရွှေ့ခဲ့ကြ၏။ ထို စာကြည့်ဆောင်ကား လွန်ခဲ့သော လေးရက်ခန့်က ရုရှား ဘုရင် အလက်ဇန်းဒရား၏ စာကြည့်ဆောင်ပေတည်း။ နပိုလီယန်သည် ထိုင်ဖုံတွင် ထိုင်လိုက်၍ ရှေ့ရှိ သေဗရီ ကော်ဖီ ပန်းကန်ကို လက်ဖြင့်လှည့်၍ ကစားနေရာမှ ( တပ်ရေးချုပ် ဗလရှေအား မိမိအနီးရှိ ထိုင်ဖုံတွင် ထိုင်ရန် အချက်ပြလိုက်သည်။

ယခုအချိန်၌ နပိုလီယန်မှာ ညစာ စားပြီးနောက် ဖြစ်ပေါ်တတ်သော စိတ်ကြည်လင်ချမ်းမြေ့မှုမျိုးဖြင့် ရွှင်ပျ လျက်ရှိလေရာ မည်သည့်အကြောင်းကြောင့်မသိ၊ ထိုရွှင်ပျ ခြင်းမျိုးသည် ကျေနပ်ရောင့်ရဲသောစိတ်၊ လူတစ်ဖက်သား အား ချစ်ခင်ကြင်နာသော စိတ်မျိုးကို ဖြစ်ပေါ်စေသည်မှာ အမှန်ပင် ဖြစ်လေသည်။ နပိုလီယန်သည် မိမိအနီး၌ ခစားနေသူအားလုံးမှာ မိမိအား ကြည်ညိုကိုးကွယ်လျက် ရှိကြသူများသာ ဖြစ်သည်ဟု ထင်မှတ်လျက် ရှိလေသည်။ ညစာစားပြီးသည်နှင့် တစ်ပြိုင်နက် တပ်ရေးချုပ် ဗလရှေ့ အားလည်း မိမိ၏ရောင်းရင်း မိတ်ဆွေတစ်ဦး၊ မိမိကို ကိုးကွယ်ကြည်ညိုသူ တစ်ဦးဟု နပိုလီယန်၏စိတ်တွင် ထင်မှတ်လျက် ရှိ

လေသည်။ နပိုလီယန်သည် ကြည်လင် ရွှင်ပျခြင်း ရှိသော်လည်း လှောင်ပြောင်သည့်သဘောကို ဆောင်သည့် အပြုံးဖြင့် ရုရှားတပ်ရေးချုပ် ဗလရှေ့ကို လှည့်ကြည့်လိုက်သည်။

“ဤစာကြည့်ဆောင်သည် ညီတော် ရုရှားဧကရာဇ် အသုံးပြုခဲ့သော စာကြည့်ဆောင်ဟု ငါသိရသည်။ ယခု ငါ၏စာကြည့်ဆောင် ဖြစ်လျက်ရှိပြီ။ ကံတရားဟူသည် ထူးဆန်းသည် မဟုတ်လော တပ်ရေးချုပ်” ။

နပိုလီယန်က မိမိသည် ရုရှားဘုရင် ဧကရာဇ်ထက် ဘုန်းလက်ရုံး တန်ခိုးတော်ကြီးပေသည် ဟူသော ဟန်မျိုး ဖြင့် မေးလိုက်သည်။

တပ်ရေးချုပ် ဗလရှေသည် မည်သို့မျှ ပြန်လည် ချေပနိုင်ခြင်း မရှိတော့ဘဲ ခေါင်းညိတ်၍ ပြလိုက်၏။

“မှန်ပေတယ် မောင်မင်း၊ လွန်ခဲ့သော လေးရက် ခန့်က ညီတော် ရုရှားဧကရာဇ်၏ ဗိုလ်ချုပ် ဗိုလ်မှူး၊ စစ်ဦးစစ်ကဲများ ဖြစ်ကြသည့် ဝန်ဇင်ဂျီရိုဒီနှင့် စတိန်းတို့ သည် စစ်ရေးစစ်ရာများကို ဤစာကြည့်ဆောင်ထဲ၌ပင် တိုင်ပင် ဆွေးနွေးခဲ့ကြသည် မဟုတ်လော” နပိုလီယန်က မိမိကိုယ်ကို မိမိယုံကြည်ခြင်း၊ တစ်ဖက်သားကို လှောင် ပြောင် နှိမ့်ချခြင်းစသည်တို့ကို ဆောင်သည့်အပြုံးဖြင့် မေးလိုက်သည်။ ထိုနောက် ဆက်၍

”ငါ နားမလည်နိုင်သော အချက်ကား ညီတော် ရုရှားဘုရင်ဧကရာဇ်သည် ငါ၏ပုဂ္ဂိုလ်ရေး ရန်သူများကို သူ၏အပါးတွင် စုရုံးသိမ်းသွင်းခစားစေခြင်း ဖြစ်သည် တပ်ရေးချုပ်၊ ဤအချက်ကား ငါနားမလည်နိုင်သော အချက်ဖြစ်သည်၊ သူက ဤသို့ပြုလျှင် ငါကလည်း သူ၏ ပုဂ္ဂိုလ်ရေးရန်သူများကို ငါ့အနီးတွင် စုရုံးသိမ်းသွင်းခြင်း ပြုနိုင်သည်ကို ညီတော် ရုရှားဧကရာဇ် မစဉ်းစားရာ သလော” နပို

လီယန်သည် တပ်ရေးချုပ် ဗလရှေ့ဘက်သို့ လှည့်ကြည့်လိုက်၏။ ဤကိစ္စကို စဉ်းစားမိသည်နှင့် တစ်ပြိုင်နက် နပိုလီယန်သည် နံနက်က ဒေါသအရှိန် မပြေသေးဘဲ မာန်တက်လာပြန်သည်။

"တပ်ရေးချုပ်၊ သင်၏ ကေရာဇ်အား လျှောက် တင်လေ၊ သင့်ကေရာဇ်သည် ငါ၏ ပုဂ္ဂိုလ်ရေးရန်သူများ ကို စုရုံးသိမ်းသွင်းအံ့၊ ငါသည်လည်း သင့်ကေရာဇ်၏ ပုဂ္ဂိုလ်ရန်သူများကို စုရုံးသိမ်းသွင်းအံ့"

နပိုလီယန်သည် ရှေ့တွင်ရှိသည့် ဆေဗရီ ကာဖီ ပန်းကန်ကို လက်ဖြင့် တွန်းဖယ်၍ ထိုင်ရာမှ ထလိုက်၏။

"ငါသည် ဂျာမနီပြည်ရှိ ဂူတင်ဘတ် မင်းမျိုးများ၊ ဘေဒင်မင်းမျိုးများနှင့် ဝေမာမင်းမျိုးများကို ဂျာမနီမှ မောင်းထုတ်အံ့၊ သင်းတို့အား ဂျာမန်မြေပေါ်မှ မောင်းထုတ် အံ့။ သင်းတို့ ရုရှားနိုင်ငံတွင် ပြေးဝင်ခိုလှုံရန်သာ ပြင်ဆင် ထားကြစေတော့"

တပ်ရေးချုပ် ဗလရှေ့က မိမိသည် နပိုလီယန်၏ စကားများကို နားထောင်လိုခြင်း မရှိဘဲ နားထောင်နေရ ခြင်း ဖြစ်ကြောင်း၊ မိမိသည် ပြန်ချိန်တန်ပြီ ဖြစ်ကြောင်းကို အမူအရာဖြင့် ပြလျက် ဦးညွှတ်၍ အရိုအသေပြုလိုက် ၏။ နပိုလီယန်ကား တပ်ရေးချုပ်ဗလရှေ၏ အမူအရာကို ( သတိမထားမိသေးချေ။ ယခုအချိန်၌ နပိုလီယန်သည် ( တပ်ရေးချုပ် ဗလရှေအား ရန်သူကေရာဇ်မင်း၏ သံတမန် တစ်ဦးကဲ့သို့ စကားပြောဆိုခြင်း မရှိတော့ဘဲ မိမိအား ကြည်ညိုကိုးကွယ်လျက် အရှင်သခင်ဟောင်း အလက်ဇန်း ဒရားဘုရင်၏ အရေးနိမ့်ခြင်းကို ဝမ်းသာလျက်ရှိသူ မိမိ ၊ နောက်တော်ပါတစ်ဦးအား ပြောဆိုသကဲ့သို့ ပြောဆိုလျက် ရှိလေသည်။

"တပ်ရေးချုပ်၊ သင်တို့၏ ရုရှားဘုရင် အလက်ဇန်း ဒရားသည် အဘယ့်ကြောင့် တပ်တော်များကို ကိုယ်တိုင် ကွပ်ကဲ ချီတက်လာသနည်း၊ ဤအခြင်းအရာ

ကား အဘယ် နည်း၊ စစ်ထိုးခြင်းသည် ငါကဲ့သို့သော စစ်ဘုရင်၏အလုပ် ဖြစ်သည်။ သို့ရာတွင် အလက်ဇန်းဒရားဘုရင်၏ အလုပ် ကား စစ်ထိုးခြင်း မဟုတ်။ တိုင်းနိုင်ငံကို အုပ်ချုပ်ခြင်း မျှသာ ဖြစ်သည်။ ဤသည်ကို ရုရှားဘုရင် အလက်ဇန်း ဒရား မ သိရာသလော"

နပိုလီယန်သည် အိတ်ထဲမှ ရှူဆေးဘူးကို ထုတ်၍ အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေပြန်သည်။ ထိုနောက် ရုတ်တရက် တပ်ရေးချုပ် ဗလရှေးထံသို့ လျှောက်သွားကာ တပ်ရေးချုပ် ဗလရှေအား ကျီစယ်လိုဟန် ဖြင့် ခပ်မိန့်မိန့်ပြုးလျက် အသက်လေးဆယ် ရှိပြီဖြစ်သော ရုရှားတပ်ရေးချုပ် ဗလရှေ၏နားရွက်ကို အသာအယာ ဆွဲလိမ်လိုက်သည်။

ပြင်သစ် ရွှေနန်းတွင်း ထုံးစံကား ဘုရင်ကေရာဇ် မင်းမြတ်က နားရွက်ကို ဆွဲလိမ်၍ ကျီစားခံရခြင်းသည် အကျီစားခံရသူအဖို့ ကြီးမြတ်သော ဂုဏ်ပုဒ်ကြီး ဖြစ်ချေ သည်။

"ညီတော် အလက်ဇန်းဒရား ဘုရင်ကေရာဇ်၏ နန်းတွင်းသားလည်းဖြစ်၊ သစ္စာရှိလှစွာသော ကျေးကျွန် လည်းဖြစ်သည့် တပ်ရေးချုပ်၊ ဘာကြောင့် စကားမဆို တိတ်တိတ်နေဘိသနည်း"

နပိုလီယန်က မိမိရှေ့မှောက်၌ ရောက်နေပါလျက် မိမိမှအပ အခြားတစ်ပါးသော မင်းကေရာဇ်တစ်ပါး၏ သစ္စာတော်ခံ ဖြစ်နေခြင်းမှာကား ရယ်ဖွယ်ကောင်းလှ သည်ဟု ဆိုလိုဟန်ဖြင့် ပြောလိုက်၏။ ထို့နောက် တပ် ရေးချုပ် ဗလရှေ့ဘက်သို့ လှည့်၍ .

"တပ်ရေးချုပ်အတွက် မြင်းများ အဆင်သင့်ဖြစ် ကြပြီလော၊ တပ်ရေးချုပ်၏ အပြန်ခရီးသည် အလာခရီး ထက် ဝေးချေတော့မည်"

ဤသို့ဖြင့် တပ်ရေးချုပ် ဗလရေသည် နပိုလီယန် ၏ စာချွန်ကို ယူ၍ပြန်ခဲ့လေသည်။ တပ်ရေးချုပ် ဗလရေ ယူဆောင်ခဲ့သည့် စာချွန်ကား နပိုလီယန်က ရုရှားကေရာဇ် သို့ နောက်ဆုံးပေးသည့် စာချွန်ဖြစ်လေသည်။ တပ်ရေးချုပ် ဗလရေသည် တွေ့မြင်ခဲ့ရသည့် အခြင်းအရာတို့ကို ရုရှား ကေရာဇ်အား တင်လျှောက်ခြင်း ပြု၏။ ကြားနာခဲ့ရသည့် စကားတို့ကို ရုရှားကေရာဇ်အား အသေးစိတ် တင်လျှောက် ခြင်း ပြု၏။

ထို့နောက်၌ကား စစ်ပွဲကြီး ဖြစ်ပွားလာခဲ့လေ သတည်း။

# အခန်း ၈

မော်စကိုမြို့တွင် ပီယာနှင့် တွေ့ဆုံပြီးသည့်နောက်၌ မင်းသားကလေး အင်ဒရေသည် ပီတာစဘတ် ရွှေမြို့တော်  သို့ ထွက်လာခဲ့၏။ မင်းသားကလေး အင်ဒရေသည် ကိစ္စရှိသည်ဟု အိမ်သားများကို အကြောင်းပြခဲ့သော်လည်း ( အမှန်အားဖြင့်မူ မည်သည့်ကိစ္စမျှ အထွေအထူးရှိ၍ မဟုတ် ချေ။ အနာတိုလီနှင့် တွေ့တွေ့ဆိုင်ဆိုင် တွေ့ရန် လိုအပ် သည်ဟု ယူဆသည့်အတွက် အနာတိုလီနှင့် တွေ့ဆုံရန် လာခဲ့ခြင်းသာ ဖြစ်လေသည်။ ပီတာစဘတ် ရွှေမြို့တော် သို့ ရောက်သောအခါ၌ အနာတိုလီ၏အကြောင်းကို စုံစမ်း သော်လည်း အနာတိုလီမှာ ပီတာစဘတ် ရွှေမြို့တော်မှ ထွက်ခွာသွားခဲ့လေပြီ။ ဤအတောအတွင်း၌ ပီယာသည် မိမိ၏ယောက်ဖတော်အား မင်းသားကလေး အင်ဒရေက လိုက်လံရှာဖွေလျက်ရှိကြောင်းကို သတိပေးထားခဲ့၏။ ထိုသတင်းကို ကြားသည်နှင့် အနာတိုလီသည် စစ်ဝန်ကြီး ဌာနမှ ရာထူးတစ်ခုကို ဆောင်ယူကာ မိမိတာဝန်ထမ်း ဆောင် ရမည့် တပ်များရှိရာ မော်လ်ဒါးဗီးယားပြည်သို့ ထွက်ခွာလာခဲ့လေသည်။ ပီတာစဘတ် ရွှေမြို့တော်တွင် ရှိစဉ် မင်းသားကလေး အင်ဒရေသည် မိမိ၏စစ်ဦးစီးချုပ် ဟောင်း

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်နှင့် သွားရောက်တွေ့ဆုံ ခဲ့၏။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်မှာ မော်လ်ဒါးဗီးယား ပြည်တွင် စစ်ဦးစီးချုပ်အဖြစ် ခန့်ထားခြင်းခံရသည့်အနက် မိမိနှင့်အတူ လိုက်ပါလာရန် မင်းသားကလေး အင်ဒရေ အား ခေါ်သည်တွင် မင်းသားကလေး အင်ဒရေမှာလည်း မိမိ အလွန်တရာ တွေ့လိုသော အနာတိုလီကို တွေ့ရတော့ မည်ဖြစ်သဖြင့် လက်ခံသဘောတူလိုက်၏။ သို့ဖြင့်မင်းသား ကလေး အင်ဒရေသည် စစ်ဦးစီးဌာနချုပ်တွင် ရာထူး ( တစ်နေရာ ခန့်အပ်ခြင်းခံရသည်နှင့် တစ်ပြိုင်နက် တူရကီ နိုင်ငံသို့ ထွက်လာခဲ့လေသည်။

မင်းသားကလေး အင်ဒရေသည် အနာတိုလီနှင့် နှစ်ယောက်ချင်း ယှဉ်ပြိုင်သတ်ရန် စာရေး၍ ချိန်းဆိုရလေ မည်လောဟု တွေးမိသည်။ သို့ရာတွင် ယခု အခြေအနေ တွင် အခြားအကြောင်းပြချက် မရှိဘဲ နှစ်ယောက်ချင်းသတ် ရန် ချိန်းဆိုပါက နာတာရှာကိစ္စကြောင့် ချိန်းဆိုခြင်းသာ ဖြစ်သည်ဟု အထင်ခံရမည်ကိုလည်း စိုးရိမ်လျက်ရှိ၏ ။ ဤသို့ ချိန်းသတ်ခြင်းကြောင့် မိမိနှင့် နာတာရှာတို့ ပြန်၍ ပတ်သက်နေရဦးမည့်အဖြစ်ကိုလည်း မလိုလားချေ။ ထို့ကြောင့် မင်းသားကလေး အင်ဒရေသည် ချိန်းသတ်ဖို့ နောက်ထပ် အကြောင်းပြချက်တစ်ခု ရှာရန် အတွက်  အနာတိုလီနှင့် လူချင်း တွေ့တွေ့ဆိုင်ဆိုင် တွေ့အောင်သာ ကြိုးစားလျက်ရှိခြင်း ဖြစ်လေသည်။ သို့ရာတွင် မင်းသား ကလေး အင်ဒရေသည် တူရကီပြည်၌လည်း အနာတိုလီ နှင့် လွဲသွားပြန်လေသည်။ မင်းသားကလေး အင်ဒရေ တူရကီပြည်သို့ ရောက်လာသည်နှင့် တစ်ပြိုင်နက် အနာ တိုလီမှာရုရှားပြည်သို့ ပြန်သွားခဲ့လေပြီ။ နယ်သစ် အခြေ အနေသစ်ကို တွေ့လိုက်ရသည့်အတွက် မင်းသားကလေး အင်ဒရေမှာ အနည်းငယ် နေသာထိုင်သာ ရှိမည်ဟု ထင်မှတ်မိ၏။ နာတာရှာက မိမိအပေါ်၌ သစ္စာဖောက်သွားပြီး နောက်၌ ထိုဖြစ်ပေါ်လာသော အကျိုးသက်ရောက်မှုများ ကို မင်းသားကလေး အင်ဒရေသည် ကြိတ်မှိတ်၍

ခံခဲ့ သည်။ သို့ရာတွင် တစ်ခါက မိမိ ပျော်မြူးကြည်မွေ့ခဲ့သော ပတ်ဝန်းကျင်တွင် ကား ပျော်ပိုက်ခြင်းမရှိတော့ပြီ။ တစ်ခါက မိမိ လွန်စွာ တန်ဖိုးထားခဲ့သော လွတ်လပ်ခြင်း၊ အချုပ် ` အနှောင်ကင်းမဲ့ခြင်းတို့သည်လည်း ငြီးငွေ့ဖွယ် ကောင်းသော အရာဖြစ်လာခဲ့ကြလေပြီ။ ဩစတားလစ်တိုက်ပွဲအတွင်း စစ်မြေတွင် ဒဏ်ရာရ၍ လဲနေရင်း ကောင်းကင်ပြာကြီးကို မော့ကြည့်ခဲ့စဉ်က ပေါ်ပေါက်လာခဲ့ သော အတွေးများ၊ ပီယာနှင့် ကူးတို့ဆိပ်တွင် ရပ်၍ စကားပြောကြစဉ်က ပေါ်ပေါက်လာခဲ့သော အတွေးများ၊ ဘိုဂူချာရိုဗို ပိုင်စား နယ်မြေတွင် တစ်ယောက်တည်း နေခဲ့စဉ်က ဖြစ်ပေါ်ခဲ့သော အတွေးများ၊ ဆွစ်ဇာလန်ပြည်နှင့် ရောမမြို့တွင် ရောက်ခဲ့ စဉ်က ဖြစ်ပေါ်ခဲ့သော ကြည်နူးမှုများ စသည်တို့သည် ယခုအချိန်တွင် မင်းသားကလေး အင်ဒရေ၏ခေါင်းထဲမှ ပျောက်ကွယ်ခဲ့ကြလေပြီ။ ထိုမျှမက ထိုစဉ်က ရရှိခဲ့သော စိတ်၏ ကြည်လင်ငြိမ်းချမ်းခြင်းနှင့် ထိုစိတ် ငြိမ်းချမ်းခြင်း ကြောင့် ခံစားခဲ့ရသော အရသာတို့ကိုပင် မတွေးရဲလောက် အောင် ဖြစ်လျက်ရှိလေပြီ။ ယခုအချိန်၌ မင်းသားကလေး အင်ဒရေမှာ အတိတ်ကို လုံးဝ မေ့ထားလိုက်ကာ အတိတ်က ဖြစ်ရပ်များနှင့် ဆက်စပ်ခြင်းမရှိသော လောလောဆယ် လက်တွေ့ကိစ္စများလောက်ကိုသာ စိတ်ဝင်စားလျက် ရှိလေ သည်။ သို့သော်လည်း မင်းသားကလေး အင်ဒရေအဖို့၌ ဤသို့သော လောလောဆယ် လက်တွေ့ ကိစ္စများကို စိတ်ထက်သန်စွာ လုပ်သည်နှင့်အမျှ အတိတ်က အဖြစ် အပျက်များသည်လည်း ပို၍ထင်ရှားစွာ ပေါ်လာကြခြင်းကို တွေ့ ရ၏။ တစ်ခါက မိမိ၏ခေါင်းပေါ်တွင် အုပ်မိုးလျက်  ရှိသော ဆုံးစမထင်သည့် ကောင်းကင် မျက်နှာကျက်ကြီး သည် ယခုအချိန်၌ မိမိ၏အပေါ်သို့ ပိကျလာသော ကုန်းကြီးတစ်ခုကဲ့သို့ အောက်မေ့ရလျက် လောကတွင် ထာဝရနိစ္စဖြစ်သောအရာ၊ မသိနိုင်သောအရာ တို့ဟူ၍ မရှိတော့ဘဲ အားလုံးသည် သိနိုင်သောအရာ၊ သိ ကောင်း သောအရာ၊ ရှင်းလင်းလွယ်ကူသောအရာဟု ထင်မှတ်လာ ခဲ့လေသည်။

မင်းသားကလေး အင်ဒရေ တွေ့ကြုံဖူးသော အလုပ်များအနက် စစ်မှုထမ်းခြင်းအလုပ်ကား မိမိအဖို့ အရှင်းလင်းဆုံး၊ အရိုးသားဆုံး၊ အလွယ်ကူဆုံးဟု ထင်မိ၏။ မင်းသားကလေး အင်ဒရေသည် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ဌာနၞ ဗိုလ်ချုပ်တစ်ဦးအဖြစ် တာဝန်ထမ်းဆောင်လျက်ရှိစဉ် အလုပ်တာဝန်များကို ဖွဲ့ ကောင်းကောင်းနှင့် စိတ်အားထက်သန်စွာ ဆောင်ရွက်ခြင်း ပြုလေရာ မင်းသားကလေး အင်ဒရေ၏ စိတ်အားထက် သန်ခြင်းနှင့် စေ့စပ်သေချာခြင်းတို့ကို ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်ကိုယ်တိုင်ကပင် အံ့သြချီးမွမ်းခြင်း ပြုရပေသည်။ တူရကီပြည်တွင် အနာတိုလီကို မတွေ့တော့သောအခါ၌ မင်းသားကလေး အင်ဒရေသည် ရုရှားပြည်သို့ ပြန်ကာ အနာတိုလီကို လိုက်ရှာဖို့လိုသည်ဟု မထင်တော့ချေ။

သို့ရာတွင် မိမိသည် အနာတိုလီအား နှောင်နှစ်ပေါင်း မည်မျှကြာသည့်အခါမှ ပြန်တွေ့သည်ဖြစ်စေ၊ အနာတိုလီ အပေါ်၌ နှစ်ပြားမျှ မတန်အောင် အထင်သေးသည်ဖြစ်စေ၊ အနာတိုလီလိုလူနှင့် အဖက်လုပ်၍ သတ်ပုတ်ခြင်းငှာ မထိုက်ဟု မည်မျှပင် ယူဆသည်ဖြစ်စေ၊ ငတ်ပြတ်လျက် ရှိသူတစ်ယောက်သည် အစာကို တွေ့လျှင် လုယူစား သောက်ခြင်း မပြုဘဲ မနေနိုင်သကဲ့သို့ အနာတိုလီနှင့် တကယ် တွေ့တွေ့ဆိုင်ဆိုင် တွေ့လာသောအခါတွင် မိမိ သည်လည်း အနာတိုလီအား ရမယ်ရှာကာ သတ်ဖြတ်ရန် ချိန်းဆိုခြင်းမပြုဘဲ နေနိုင်မည်မဟုတ်ကြောင်းကို မင်းသား ကလေး အင်ဒရေ သိပြီးဖြစ်လေသည်။ မိမိအား စော်ကား သွားခြင်းကို ပြန်၍ လက်စားမချေရသေးဟူသော အသိ၊ မိမိ၏စိတ်ထဲ၌ မျိုသိပ်ထားရသော အမျက်ဒေါသကို ထုတ်ဖော်ဖွင့်အန်ခြင်း မပြုရသေးဟူသော အသိသည် မင်းသား ကလေး အင်ဒရေ၏ နှလုံးသားပေါ်တွင် ကျောက် ခဲကြီး တင်ထားသည့်ပမာ လေးလံလျက် ရှိ၏။ ထိုအသိ  သည် မနားမနေ အလုပ်လုပ်ခြင်းကြောင့် ရရှိခဲ့သော

သဘာဝမဟုတ်သည့် စိတ်ငြိမ်သက် ချမ်းမြေ့ခြင်းကိုလည်း နှောင့်ယှက်ဖျက်ဆီး လျက် ရှိလေသည်။

၁၈၁၂-ခုနှစ်၌ ရုရှားနိုင်ငံနှင့် နပိုလီယန်တို့ စစ် ဖြစ်ပြီဟူသော သတင်းသည် ဘူခါရက်မြို့သို့ ရောက်ရှိ လာခဲ့၏။ ထိုအချိန်တွင် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် နှစ်လလုံးလုံး နေ့ရောညပါ ရှုမေးနီးယန်း မိန်းမပျက်တစ်ယောက်နှင့် အချိန်ကုန်လျက် ရှိလေသည်။ မင်းသားကလေး အင်ဒရေသည် မိမိအား အနောက်ဘက် ကြောင်းချီ တပ်တော်ကြီးသို့ ပြောင်းရွှေ့ပေးရန် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်အား ပြောဆိုလေသည်။ ဤတွင် ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ်သည်လည်း မိမိက လေလွင့်မြူးထူး လျက်ရှိသလောက် မင်းသားကလေး အင်ဒရေက အလုပ် ကို အပတ်တကုတ် ကြိုးစားလုပ်ကိုင်လျက်ရှိသည့်အတွက် မလုံမလဲဖြစ်ကာ အနေရခက်လျက်ရှိသဖြင့် အသာတကြည် ပင် ပြောင်းရွှေ့ခွင့်ပေးလိုက်သည်။ အနောက်ဘက်ကြောင်း ချီ တပ်မကြီး စစ်ဦးစီးချုပ် ဗိုလ်ချုပ်ကြီး ဘာကလေဒီတိုလီ ထံသို့လည်း စာတစ်စောင်ရေး၍ ပေးလိုက်လေသည်။

ထိုအချိန်မှာ မေလဖြစ်လျက် ဗိုလ်ချုပ်ကြီး ဘာ ကလေ၏ အနောက်ဘက် ကြောင်းချီ တပ်မကြီးသည် ဒရစ်ဆာမြို့တွင် တပ်စွဲထားလျက်ရှိ၏။ မင်းသားကလေး အင်ဒရေသည် အနောက်ဘက်ကြောင်းချီ တပ်မကြီးရှိ စစ်ဦးစီးဌာနချုပ်သို့ ထွက်လာခဲ့ရာ၌ စမိုးလင့်သွား ပေ တစ်ရာလမ်းမကြီးမှ လာခဲ့ရခြင်းဖြစ်လေရာ လမ်းကြုံသည် နှင့် ပေတစ်ရာလမ်းမကြီး အတွင်းဘက် သုံးမိုင်ခန့်ဝေး သော ခမည်းတော်ကြီးနေထိုင်ရာ တောင်ကတုံးဒေသရှိ စံအိမ်သို့ ဝင်ရောက်ခဲ့လေသည်။ လွန်ခဲ့သော သုံးနှစ် ကာလအတွင်း၌ မင်းသားကလေး အင်ဒရေ၏ဘဝတွင် ပြောင်းလဲခြင်းအမျိုးမျိုးကို ကြုံခဲ့ရလေပြီ။ မင်းသားကလေး အင်ဒရေသည် (အရှေ့ဘက်တစ်ခွင်နှင့် အနောက်ဘက် တစ်ခွင်တွင် ပြဲပြဲစင်အောင် ခရီး

လှည့်လည်ခဲ့ပြီး ဖြစ်သည့် အတွက်) လူအမျိုးမျိုး အဖြစ် အထွေထွေကို တွေ့မြင်ခဲ့ကြားခဲ့ဖူးလေပြီ။ သို့ရာတွင် တောင်ကတုံးစံအိမ်၌ကား မည်သို့မျှ ပြောင်းလဲခြင်း မရှိချေ။ အသေးငယ်ဆုံးသော အရာဝတ္ထုကလေးမှအစ အကြီးဆုံးသော အရာဝတ္ထုအထိ အရာရာတိုင်းသည် တည်ရှိမြဲ တည်ရှိလျက်ရှိပေသည်။ မင်းသားကလေး အင်ဒရေသည် စောင်ရန်းတိုင်အဖြစ် ကျောက်တိုင်နှစ်တိုင် တစ်ဖက်တစ်ချက်တွင် စိုက်ထူထား သည့် ဝင်းတံခါးမှ ဝင်လာခဲ့၍ သစ်ပင်များ အုပ်မိုးလျက် ရှိသော လမ်းကလေးအတိုင်း ရထားဖြင့် စံအိမ်ဝင်းထဲသို့ ဝင်လာခဲ့သည်။ သို့ဝင်လာခဲ့စဉ် မိမိသည် ပြုစားခံရ၍ နှစ်ပေါင်းတစ်ရာမျှ အိပ်ပျော်လျက်ရှိသူတို့ နေထိုင်ရာ ရှေးဒဏ္ဍာရီထဲမှ ရဲတိုက်ကြီးထဲသို့ ဝင်လာမိလေသလောဟု ပင် မင်းသားကလေး အင်ဒရေ ထင်မှတ်မိသေး၏။ ယခင် က အတိုင်းပင် ခမ်းနားခြင်း၊ သန့်ရှင်းစင်ကြယ်ခြင်း၊ တိတ်ဆိတ်ငြိမ်သက်ခြင်းတို့သည် စံအိမ်ကြီးတစ်ခုလုံးကို လွှမ်းခြုံလျက်ရှိသကဲ့သို့ ထင်ရ၏။ စံအိမ်ကြီးအတွင်း၌ လည်း ယခင်က အိမ်ထောင်ပရိဘောဂများ၊ ယခင်က နံရံ၊ ယခင်က အသံ၊ ယခင်က ရနံ့၊ ယခင်ကကဲ့သို့ ထိတ်လန့်စိုးရိမ်လျက်ရှိသော မျက်နှာထားများကိုသာ တွေ့ ရ၏။ သို့ရာတွင် မျက်နှာများကား သုံးနှစ်စာမျှ အိုမင်း ရင့်ရော်လာခဲ့ကြလေပြီ။ မင်းသမီးကလေး မေရီမှာ ယခင် ကကဲ့သို့ ခပ်ထိုင်းထိုင်း၊ ခပ်နံနံ၊ ကြောက်ရွံ့သော အမူ အရာကို ဆောင်လျက်တဖြည်းဖြည်း ရင့်ရော်စပြုလာ ကာ မိမိဘဝတစ်သက်တာ၏ ပျော်စရာအကောင်းဆုံး အချိန်များကို ကုက္ကုစ္စဖြစ်ရခြင်း၊ ဗျာပါရဖြစ်ရခြင်းတို့ဖြင့် အကျိုးမဲ့ အချည်းနှီး ကုန်လွန်စေဆဲပင် ဖြစ်၏။ ပြင်သစ်သူ ဘူရင်းလည်း ယခင်က ကဲ့သို့ပင် ပျံတံတံ နှံ့တံတံ အမူ အရာမျိုးဖြင့် ပေါ့ပေါ့နေ ပေါ့ပေါ့စားကာ မင်းသားကြီး ဘိုလကွန်စကီကို အပိုင်ချိုင်၍ ရလိမ့်နိုးဖြင့် စိတ်ကူး ဖဲရိုက်လျက် ရှိဆဲပင်ဖြစ်၏။ မင်းသားကလေး အင်ဒရေ ဆွစ်ဇာလန်နိုင်ငံမှ ငှားရမ်းလာခဲ့သော စာပြဆရာ ဒီဆေးလ် မှာ ရုရှားပုံအင်္ကျီကိုဝတ်၍ အစေခံများနှင့် ရုရှားစကားကို မပီတပီ ပြောတတ်ပြီဖြစ်

သော်လည်း ယခင်ကကဲ့သို့ပင် အသိအမြင် ကျဉ်းမြောင်းလျက်၊ ဘဝင်မြင့်လျက်၊ စာကြီး ပေကြီးကို ရွတ်၍ နေရာတကာ ဆရာလုပ်လျက်ပင် ရှိ သေး၏။ မင်းသားကြီး ဘိုလကွန်စကီမှာ ရှေ့သွားတစ် ချောင်း ကျိုးကာ ပါးစောင်တစ်ဖက်တွင် သွားဟောင်း လောင်းဖြင့် ရှိနေသည့်အတွက် အသွင်သဏ္ဌာန်အားဖြင့် အနည်းငယ် ပြောင်းလဲသည်ဟု ထင်ရသော်လည်း စိတ်နေ စိတ်ထားအားဖြင့် မူကား ယခင်ကအတိုင်းပင် ကမ္ဘာ လောကကြီးတွင် ဖြစ်ပျက်လျက်ရှိသော အခြင်းအရာများ နှင့် ပတ်သက်လာလျှင် ကဏ္ဍကောစပြုလိုသော ဆန္ဒရှိခြင်း၊ ကန့်လန့်လုပ်လိုခြင်း စသည်တို့ကို ပြသလျက်ရှိမြဲပင် ဖြစ်၏။ ဤသို့ဖြင့် တောင်ကတုံး စံအိမ်ကြီးတစ်ခုလုံးရှိ အရာဝတ္ထုများ၊ လူများအားလုံးသည် ပြောင်းလဲခြင်းမရှိဘဲ ယခင်ကအတိုင်းပင် ရှိလေသည်။ စံအိမ်ကြီးတွင် ပြောင်းလဲခြင်းရှိသူဟူ၍ မင်းသားကလေး အင်ဒရေ၏သားငယ် ဘိုးအေချစ် မင်းသားကလေး တစ်ဦးသာ ရှိ၏။ ဘိုးအေချစ် မင်းသားကလေး၏ နှင်းဆီသွေး ပက်ဖျန်းထားသကဲ့သို့ ရှိသော စိုပြည်နီမြန်းသည့် အသားအရေ၊ နက်မှောင်သော ဆံပင်ကောက်ကလေးများနှင့်တကွ ရယ်လိုက်လျှင် လှပ သော အထက်နှုတ်ခမ်းကလေး မသိမသာ ဟသွားပုံတို့ သည် ကွယ်လွန်သူမိခင် မင်းသမီးကလေး လီဇာနှင့် ချွတ်စွပ်တူလျက်ရှိကာ ကိုယ်ခန္ဓာမှာလည်း အတော်ကြီး ထွားလာခဲ့ပြီ ဖြစ်လေသည်။ ပြုစားခံရ၍ အိပ်ပျော်လျက် ရှိသော ရဲတိုက်ကြီးထဲ၌ ပြောင်းလဲခြင်းမရှိသော နိစ္စတရား ကို ဘိုးအေချစ် မင်းသားကလေး တစ်ဦးသာလျှင် ဆန့်ကျင်သွေဖည်လျက် ရှိလေသည်။ သို့ရာတွင် အပြင်ပန်းအား ဖြင့်သာ အားလုံးသည် ပြောင်းလဲခြင်းမရှိဟု ထင်ရသော် လည်း စံအိမ်ကြီးအတွင်းရှိ အိမ်သူအိမ်သားများ၏ အချင်း ချင်း ဆက်ဆံရေးမှာကား မင်းသားကလေး အင်ဒရေ မရှိသည့်နောက် အကြီးအကျယ် ပြောင်းလဲခဲ့လေပြီ။ ယခု အချိန်၌ စံအိမ်ကြီးအတွင်းရှိ အိမ်သူအိမ်သားများသည် တစ်ဖက်တစ်ဖက် ချက်ကောင်းကိုစောင့်၍ အပြစ်ရှာ

လျက် ရှိကြသော အုပ်စုနှစ်စုအဖြစ် ကွဲလျက်ရှိလေပြီ။ အုပ်စု တစ်စုကား မင်းသားကြီး ဘိုလကွန်စကီ၊ ပြစ်သစ်သူ ဘူရင်းနှင့် စံအိမ်တော် ဗိသုကာကြီးတို့ ပါဝင်၍ အခြား အုပ်စုတစ်စုတွင်မူ မင်းသမီးကလေး မေရီ၊ စာပြဆရာ ဒီဆေးလ်၊ ဘိုးအချစ် မင်းသားကလေး၊ အထိန်းတော်ကြီး များနှင့် အစေတော် မိန်းမများ ဖြစ်ကြ၏။ သို့သော်လည်း ထိုအုပ်စုနှစ်စုသည် မင်းသားကလေး အင်ဒရေ ရောက်ရှိနေသည့် အတောအတွင်း၌မူ မည်သို့မျှမဖြစ်ဟန် ဣန္ဒြေ ဆည်ထားကြကာ မျက်နှာချင်းမဆိုင်ချင်ဘဲ ဆိုင်နေကြ လေသည်။ တစ်ဖက်နှင့်တစ်ဖက်ကား စကားမပြောကြ ချေ။

မင်းသားကလေး အင်ဒရေ တောင်ကတုံးစံအိမ် တွင် ရောက်ရှိနေသည့် အတောအတွင်း၌ အိမ်သားအားလုံး ညစာကို အတူစားကြ၏။ သို့သော်လည်း ၎င်းတို့အားလုံး ၏ မျက်နှာထားများမှာ ကြည်လင်ခြင်းမရှိလှချေ။ မင်းသား ကလေး အင်ဒရေကလည်း မိမိရောက်ရှိလာသည့်အတွက် ၎င်းတို့အချင်းချင်း ဣန္ဒြေမပျက် ဆက်ဆံနေကြရကြောင်း ကို ရိပ်မိလိုက်၏။ မင်းသားကလေး အင်ဒရေသည် ဤ အခြင်းအရာကို ရောက်သည့်နေ့ ညစာစားပွဲတွင် သတိ ထားလိုက်မိသည့်အတွက် ထမင်းဝိုင်းတွင် စကားတစ်ခွန်း မျှ မဟဘဲ ခပ်မဆိတ်နေလိုက်သည်။ မင်းသားကြီး ဘို လကွန်စကီကလည်း သားတော် မင်းသားကလေး အင်ဒရေ သတိပြုမိကြောင်း ရိပ်စားမိသဖြင့် စကားတစ်ခွန်းမျှ ပြောဆိုခြင်းမပြုဘဲ စားသောက်ပြီးသည်နှင့် တစ်ပြိုင်နက် မိမိအခန်းဆောင်သို့ ပြန်တက်သွား၏။ ညဦးပိုင်းရောက် သော် မင်းသားကလေး အင်ဒရေသည် ခမည်းတော်ကြီးထံ သွားရောက်ကာ ခမည်းတော် ကြီး စိတ်ဝင်စားလို စိတ် ဝင်စားငြား မြို့စားကြီး ကာမင်စကီ၏ တိုက်ပွဲစဉ်များကို ပြောကြား၏။ ထိုအခါ၌မူ ခမည်းတော် မင်းသားကြီး ဘိုလကွန်စကီက မင်းသမီး ကလေး မေရီသည် ၎င်းကို များစွာ ခင်မင်သော ပြင်သစ်သူ ဘူရင်းကိုပင် တည့်

အောင် မပေါင်းနိုင်ကြောင်း၊ ဥပါဒါန် အစွဲအလမ်းအားကြီးလှ ကြောင်း၊ ဘာသာတရား ကိုင်းရှိုင်းလှကြောင်းဖြင့် မင်း သမီးကလေး မေရီ၏ အပြစ်အနာ အဆာဟူသမျှကို စကား ပလ္လင်မခင်းဘဲ ဟောဟောဒိုင်းဒိုင်း ပြောချလိုက်လေသည်။

အကယ်၍ မိမိ သေကောင်ပေါင်းလဲ နာမကျန်း ဖြစ်ခဲ့ပါက သို့နာမကျန်းဖြစ်ခြင်းသည် မင်းသမီးကလေး မေရီအတွက်ကြောင့်မှအပ အခြား မည်သည့်အတွက်မျှ မဟုတ်နိုင်ကြောင်း၊ မင်းသမီးကလေး မေရီသည် မိမိစိတ် ကို ညှဉ်းဆဲလျက်ရှိကြောင်း၊ ဘိုးအချစ် မင်းသားကလေး ကို အလိုလိုက်ခြင်း၊ အဓိပ္ပာယ်မရှိသော အကြောင်းအရာ များကို ပြောခြင်းဖြင့် ကလေးကို ဖျက်ဆီးလျက်ရှိကြောင်း စသည်ဖြင့် ခမည်းတော် မင်းသားကြီး ဘိုလကွန်စကီက ပြောဆိုတိုင်တန်းခြင်း ပြုလေသည်။ မင်းသားကြီး ဘို လကွန်စကီသည် မိမိအတွက် သမီးတော် မည်မျှစိတ်ဆင်းရဲ ခြင်း ဖြစ်ရကြောင်းနှင့်တကွ မင်းသမီးကလေး မေရီ၏ ဘဝမှာ မည်မျှ စိတ်မချမ်းသာစရာ ကောင်းကြောင်းကို သိ၏။ သို့ရာတွင် သမီးတော် မင်းသမီးကလေး မေရီအား စိတ်ဆင်းရဲအောင် လုပ်ခြင်းမှ ရှောင်ကြဉ်ရန်လည်း မတတ်  နိုင်ချေ။ ထိုမျှမက မင်းသမီးကလေး မေရီသည် စိတ် ဆင်းရဲ ပင်ပန်းခြင်းဖြစ်ခဲ့လျှင် ဖြစ်ထိုက်သည်ဟုလည်း ယူဆထား၏။ "မိမိ၏သားတော် မင်းသားကလေး အင် ဒရေသည် အစ်မတော်မေရီ၏ ပြစ်ချက်များကို မြင်ပါလျက် နှင့် အစ်မတော်မေရီ၏ အကြောင်းကိုမူ အဘယ့်ကြောင့် ငါ့အား တစ်ခွန်းတလေမျှ ပြောပြခြင်းမပြုလေသနည်း၊ သားတော်သည် ငါ့ကို လူဆိုးကြီးတစ်ဦး၊ သို့မဟုတ် မိမိ ၏ သမီးတော် အရင်းခေါက်ခေါက်ကို မျက်နှာသာမပေးဘဲ ပြင်သစ်မကို အရေးပေးထားသော ရာဂဥမ္မတ္တကကြီးတစ် ယောက်ဟု ထင်နေချေသလော၊ သားတော်မင်းသားကလေး အင်ဒရေသည် ဤအကြောင်းများကို ဘာမျှသိဟန် မရှိ၊ ငါရှင်းပြက သင့်တော်မည်" ဟု တွေးမိကာ သမီးတော် မင်းသမီးကလေး မေရီ၏ အဆင်ခြင်

ဉာဏ်ကင်းသော စိတ်နေသဘောထားကို မည်သည့်အတွက်ကြောင့် သည်း မခံနိုင်ဘဲ ဖြစ်ရကြောင်းကို မင်းသားကလေး အင်ဒရေအား ရှင်းလင်းပြောပြခြင်း ပြုလေသည်။

"ဒီကိစ္စကို ဖေဖျားက စပြောလာရင်တော့ ကျွန်တော်ကလဲ ပြောရလိမ့်မယ် ဖေဖျား" မင်းသားကလေး အင်ဒရေက မကြည့်ဘဲ ပြောလိုက်သည်။ (မင်းသားကလေး အင်ဒရေသည် သူ့တစ်သက်တွင် ပထမဆုံးအကြိမ် ခမည်း တော်ကြီးကို စက်ဆုပ် ရွံ့ရှာခြင်းဖြစ်၏။) "ဒီကိစ္စကို ကျွန်တော် မပြောချင်ဘူး ဖေဖျား၊ ဒါပေမဲ့ ဖေဖျားက စတင်ပြောလာမှတော့ ကျွန်တော်ကလဲ ပွင့်ပွင့်လင်းလင်းပဲ ပြောရပေတော့မှာပဲ၊ ဖေဖျားနဲ့ အစ်မတော် ထိပ်ထားပြီး မှာ တစ်ဦးနဲ့တစ်ဦး အထင်လွဲတာ၊ စိတ်ဝမ်းကွဲတာရယ်တို့ ရှိခဲ့ရိုးမှန်ရင် ယိုသမျှချေး ပုစွန်ဆိတ်ခေါင်းစုဆိုတဲ့ စကားလို အစ်မတော် ထိပ်ထားအပေါ်မှာချည်း အပြစ်တင်လို့ တော့ မဖြစ်ပေဘူး ဖေဖျား၊ အစ်မတော်ထိပ်ထားဟာ ဖေဖျားကို ဘယ်လောက်ချစ်တယ်၊ ဖေဖျားအပေါ်မှာ ဘယ်လောက် သံယောဇဉ်ကြီးတယ်ဆိုတာ ကျွန်တော် သိတယ်"

မင်းသားကလေး အင်ဒရေမှာ ပြောရင်းဆိုရင်း အသံတွေ တုန်လာလေသည်။

"တကယ်လို့ ဖေဖျားနဲ့ အစ်မတော် ထိပ်ထားကြား မှာ အထင်အမြင် လွဲမှားမှုရယ်လို့ ရှိရင် ဒီအထင်လွဲမှား မှုဟာ ဘာမှ တန်ဖိုးမရှိတဲ့ ပြင်သစ်မကြောင့်ပဲ၊ ဒီပြင်သစ် ( မဟာ အစ်မတော်ထိပ်ထားရဲ့ အဖော်အဖြစ် နည်းနည်းမှ မထိုက်တဲ့ မိန်းမ"

မင်းသားကြီး ဘိုလစကွန်စကီသည် အစပထမ၌ သားတော် မင်းသားကလေး အင်ဒရေကို မျက်လုံးကြီး အကြောင်သားဖြင့် ကြည့်နေမိသည်။ သဘာဝမကျ သော အပြုံးကို ပြုံးလိုက်သည်၌ သွားပေါင်းလောင်းဖြစ် နေသော သွားဖုံး

များသည် အထင်းသား ပေါ်လာကြ၏။ ထိုအခြင်းအရာသည် မင်းသားကလေး အင်ဒရေ၏ မျက်စိ ၌ အသစ်အဆန်းဖြစ်လျက် ရှိသည်။

"နေစမ်းပါဦး သားတော်ရဲ့၊ ဘာအဖော်လဲ။ သားတော်ပြောတာတွေ ဖေဖျား တစ်ခုမှ နားမလည်ဘူး"

"ဒီမှာ - ဖေဖျား၊ ကျွန်တော် လူတစ်ဖက်သားကို နှိပ်နှိပ်နယ်နယ် မပြောချင်ဘူး" မင်းသားကလေး အင်ဒရေ က ခပ်ပြတ်ပြတ် ပြောလိုက်၏။ "ဒါပေမဲ့ ခု ဖေဖျားက စပြောမှတော့ ကျွန်တော်ကလဲ ပြောရတော့မှာပဲ၊ အစ်မ တော် ထိပ်ထားမှာ ဘာအပြစ်မှ မရှိဘူးလို့ ကျွန်တော် အရင်တုန်းကလဲ ယူဆခဲ့တယ်၊ ခုလဲ ယူဆထားတယ်၊ အပြစ်ရှိတဲ့သူက အစ်မတော်ထိပ်ထား မဟုတ်ဘူး၊ ပြင်သစ် မ၊ နှစ်ပြားမှမတန်တဲ့ ပြင်သစ်မ"

"အလို၊ တစ်ဖက်သားကို ချိုးချိုးဖွဲ့ဖွဲ့ ပြောလှပါ ကလား ဟင်" ခမည်းတော် မင်းသားကြီး ဘိုလကွန်စကီ က ခပ်တိုးတိုးပြောလိုက်သည်ဟု မင်းသားကလေး အင်ဒရေ ထင်၏။ ထို့နောက် မင်းသားကြီး ဘိုလကွန်စကီသည် ရုတ်ချည်းထ၍ ခုန်လိုက်ကာ "သွား သွား၊ ခုထွက်သွား၊ မင်းကို ငါ့အိမ်ရိပ်ထဲမှာ ဘယ်တော့မှ မမြင်ချင်ဘူး၊ ထွက်သွား"ဟု ဒေါသတကြီး အော်လိုက်လေသည်။

မင်းသားကလေး အင်ဒရေသည် တောင်ကတုံး စံအိမ်မှ ချက်ချင်း ထွက်သွားလိုက်ချင်၏။ သို့ရာတွင် အစ်မတော် မင်းသမီးကလေး မေရီက တောင်းပန်သဖြင့် ၊ တစ်ရက်ဆိုင်းနေရလေသည်။ ထိုနေ့၌ ခမည်းတော် မင်းသားကြီး ဘိုလကွန်စကီသည် မိမိ၏ ခန်းဆောင်ထဲ တွင် တစ်နေကုန် အခန်းအောင်းလျက်ရှိကာ ပြင်သစ်သူ ဘူရင်းနှင့် လက်ပါးစေ ကျွန်ယုံတော်ကြီး တီကွန်တို့မှအပ  အခြားမည်သူ့ကိုမျှ အဝင်မခံသည့်အတွက် မင်းသား ကလေး အင်ဒရေသည် ခမည်းတော်ကြီးနှင့် မျက်နှာချင်း မဆိုင်ရတော့ချေ။ သို့ရာတွင် ခမည်းတော်မင်းသားကြီး ဘိုလကွန်စ

ကီကမူ သားတော် မင်းသားကလေး အင်ဒရေ တောင်ကတုံးစံအိမ်မှ ထွက်ခွာသွား ပြီလောဟု မကြာခဏ မေးမြန်းလျက်ရှိ၏။ နောက်တစ်နေ့တွင် မင်းသားကလေး အင်ဒရေသည် တောင်ကတုံးစံအိမ်မှ ပြန်ခါနီး၌ သား တော် ဘိုးအေချစ် မင်းသား ကလေး၏ခန်းဆောင်သို့ ဝင်လာခဲ့သည်။ ကွယ်လွန်သူ မိခင်ကဲ့သို့ ဆံပင်များ အထွေးထွေးကောက်လိမ်လျက် တုတ်တုတ်ခဲခဲနှင့် ချစ်စရာ ကောင်းလှသော သား တော်ကလေးကို ပေါင်ပေါ်တွင်တင်၍ "မုတ်ဆိတ်ဖြူ' အကြောင်း ဒဏ္ဍာရီပုံပြင်ကို ပြောပြလျက် ရှိ၏။ သို့သော်လည်း မင်းသားကလေး အင်ဒရေသည် ပုံပြင်ကို ဆုံး အောင် မပြောနိုင်တော့ဘဲ တစ်စုံတစ်ရာကို တွေးတောနေမိသည်။ မင်းသား ကလေး အင်ဒရေ တွေး တောလျက်ရှိသည့် အကြောင်းကား ပေါင်ပေါ်တွင်ထိုင် ကာ တော့တီးတော့တာ ပီယဝါစာစကားကို ဆိုလျက်ရှိသည့် မိတဆိုးသားငယ် ကလေး၏ အကြောင်းမဟုတ်ဘဲ မိမိ၏ အကြောင်းများကို တွေးတောနေမိခြင်း သာ ဖြစ်လေသည်။ ခမည်းတော်ကြီးအား ဒေါသတကြီး ပြောဆိုမိခဲ့သည့် အတွက် သနားကရုဏာဖြစ်သောစိတ်၊ မိမိ၏တစ်သက် တွင် ခမည်းတော်ကြီးနှင့် တစ်ခါမျှ စကားမများဖူးပါဘဲ လျက် စကားများကာ စံအိမ်မှ ထွက်ခွာသွားရမည့် အရေး အတွက် ဖြစ်ရသော နောင်တစိတ် စသည်တို့ ဖြစ်ပေါ်လာ အောင် နှလုံးသွင်း သော်လည်း ထိုစိတ်တို့သည် ဖြစ်ပေါ် လာခြင်းမရှိသည်ကို တွေ့ရသောအခါ ကြီး စွာ ထိတ်လန့် ခြင်း ဖြစ်မိလေသည်။ ထို့ထက် မိမိ၏သားငယ်ကို ပေါင်ပေါ်တွင် တင်ကာ သားနှင့်အဖ ချစ်ခင်ယုယစွာ စကားစမြည် ပြောဆိုကြမည်ဟု စိတ်ကူးခဲ့ သော်လည်း ယခုအချိန်တွင် ယခင်က ကိန်းအောင်းခဲ့သော ချစ်ခင် ကြင်နာခြင်း ဟူသမျှတို့သည် ပျောက်ကွယ်လျက်ရှိခြင်းကို တွေ့ရသည့်အခါ၌ မင်းသားကလေး အင်ဒရေသည် ပို၍ ထိတ်လန့်ခြင်း ဖြစ်ရသည်။

"ပြီးတော့ကော ဖေဖေ" သားငယ်က မေးလိုက် ၏။

မင်းသားကလေး အင်ဒရေသည် မည်သို့မျှ ဖြေ ကြားခြင်း မပြုဘဲ သားငယ်ကို ပေါင်ပေါ်မှချကာ ခန်း ဆောင်အပြင်သို့ ထွက်လာခဲ့လေသည်။

မင်းသားကလေး အင်ဒရေသည် မိမိ၏ နေ့စဉ်ပြု ဖွယ် ဝတ္တရားများ စွန့်လွှတ်ခဲ့ချိန်၊ အထူးသဖြင့် ယခင်က မိမိပျော်ခဲ့သော တောင်ကတုံး စံအိမ်တော်၏ ပတ်ဝန်းကျင် ဟောင်းသို့ ပြန်ရောက်လာချိန်မှစ၍ ယခင်ကကဲ့သို့ လူ့ဘဝကို ငြီးငွေ့စက်ဆုပ်ခြင်းတို့သည် ရင်ထဲတွင် ပေါ်ပေါက် လာကြကုန်သည်။ ထို့ကြောင့် မင်းသားကလေး အင်ဒရေ သည် ပတ်ဝန်းကျင်ဟောင်းမှ အမြန်ဆုံး ရုန်းထွက်ကာ တာဝန်ဝတ္တရားကို အမြန်ဆုံး ထမ်းဆောင်မှ ဖြစ်တော့မည် ဟု သဘောပေါက်လာခဲ့လေသည်။

“သွားတော့မလား အင်ဒရေ” အစ်မတော် မင်း သမီးကလေး မေရီက မေး၏။

“မသွားလို့ မဖြစ်ပေဘူး အစ်မတော်ထိပ်ထား၊ ကျွန်တော့်အနေနဲ့ကတော့ သံယောဇဉ်ရယ်လို့ သိပ်မရှိတော့ ဘူး၊ ဒီလိုသံယောဇဉ် မဖြစ်နိုင်တဲ့အတွက်လဲ ဘုရားကို ကျေးဇူးတင်တယ်၊ သံယောဇဉ်နှောင်ကြိုးတွေထဲက မရုန်း နိုင်တဲ့ အစ်မတော်အတွက်သာ စိတ်မကောင်း ဖြစ်မိတာ တစ်ခုပဲ”

“ဘယ်လို ပြောလိုက်တာလဲ အင်ဒရေ” မင်းသမီး ကလေး မေရီက ပြောလိုက်၏။ “ဒီလိုမပြောပါနဲ့ အင် ဒရေ၊ ခုလို စစ်မြေပြင်ထွက်ခါနီးမှာ မပြောကောင်း မဆို ကောင်းဆိုတော့ အစ်မတော်ထိပ်ထား ရင်တုန်လှပါတယ်။ ခမည်းတော်ကြီး ခမျာမှာလဲ အသက်ကြီးရှာပြီ၊ ခမည်းတော် ကြီးခမျာ သားတော်ကို တစ်မေးတည်း မေးနေရှာတယ်လို့ ဘူရင်းက ပြောပါတယ်” ။

မင်းသမီးကလေး မေရီသည် ဤစကားများကို ပြောဆိုလျက်ရှိရာမှ နှုတ်ခမ်းများ တုန်ယင်စပြုလာကာ မျက်ရည်တွေ စီးကျလာလေသည်။ မင်းသားကလေး (

အင်ဒရေသည် မျက်နှာကို လွှဲလိုက်လျက် အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်လျက်ရှိ၏။

"ခက်တယ် အစ်မတော် ခက်တယ်၊ ဒီအကြောင်း တွေကို မတွေးဘဲ နေတာ ပဲ ကောင်းတယ်၊ ဒီအယုတ္တ အနတ္တအကြောင်းတွေကို တွေးမိတိုင်း ကျွန်တော့် မှာ ပူ လောင်ရတယ်၊ သောကရောက်ရတယ်" မင်းသားကလေး အင်ဒရေ၏ ပြောဆိုပုံမှာ ပစ်ပစ်ခါခါ နိုင်လှသည့်အတွက် မင်းသမီးကလေး မေရီပင် ထိတ်လန့်၍ သွားမိလေသည်။

မင်းသားကလေး အင်ဒရေသည် "အယုတ္တ အနတ္တ ဆိုသောစကားလုံးကို ပြောလိုက်ရာ၌ မင်းသမီးကလေး မေရီ၏ စိတ်ဆင်းရဲခြင်းကို ဖြစ်စေသော ပြင် သစ်သူ ဘူရင်းကိုသာမက ၎င်း၏ စိတ်ချမ်းမြေ့မှုကို ဖျက်ဆီးလျက် ရှိသော အခြား သူတစ်ဦးကိုပါ ရည်ရွယ်ပြောဆိုလိုက်ခြင်း ဖြစ်ကြောင်းကို မင်းသမီးကလေး မေရီ နားလည်လိုက် သည်။

"အင်ဒရေ၊ တစ်ခုတော့ အစ်မတော် တောင်းပန်ပါ ရစေ အင်ဒရေ" မင်းသမီးကလေး မေရီက မင်းသား ကလေး အင်ဒရေ၏လက်မောင်းကို ကိုင်ကာ မျက်ရည် များ ရစ်ဝဲလျက်ရှိခြင်းကြောင့် တောက်ပလျက်ရှိသော မျက်လုံးများဖြင့် ကြည့်၍ ပြောလိုက်သည်။

"အင်ဒရေရဲ့ စိတ်သဘောကို အစ်မတော် နားလည်ပါတယ် အင်ဒရေ၊ (မင်းသမီးကလေး မေရီက မျက်လွှာကို အောက်သို့ချထားလိုက်၏။) တကယ် တော့ သောကဗျာပါရဆိုတာ လူကလုပ်တဲ့ ပစ္စည်းမဟုတ်ပေဘူး အင်ဒရေ၊ ပုထုဇဉ်လူသားမှန်သမျှ ဘုရားသခင်ရဲ့ ဖန်တီး ရာကို ခံကြရတဲ့ သတ္တဝါတွေပေပဲ"

မင်းသမီးကလေး မေရီက မင်းသားကလေး အင် ဒရေ၏ ခေါင်းပေါ်မှ ကျော်၍ နောက်ဘက်နံရံကို ကြည့် နေသည်။ မင်းသမီးကလေး မေရီ၏ကြည့်ပုံမှာ

မိမိနှင့် များစွာ ရင်းနှီးအကျွမ်းဝင်သူ တစ်ဦး၏ခေတ်ပုံကို ကြည့် သကဲ့သို့သော ကြည့်နည်းမျိုးဖြစ်၏။ အတန်ကြာမှ

”သောက ဗျာပါရ ဆိုတာမျိုးဟာ လူက လုပ်ချင် တိုင်း လုပ်လို့ရတဲ့ ပစ္စည်း မျိုး မဟုတ်ပါဘူး အင်ဒရေ။ ဘုရားသခင်က ဖန်တီးပေးလိုက်တာပါ၊ လူတွေဟာ ဘုရားသခင်ရဲ့ ဖန်တီးခြင်းကို ခံကြရတဲ့ သတ္တဝါတွေ ဖြစ်လေတော့ လူတွေကို ချည်း အပြစ်ဆိုလို့ မသင့်ပေဘူး၊ အင်ဒရေရဲ့ စိတ်ထဲမှာ ကိုယ့်အပေါ်ကို တစ်ယောက် ယောက်က အမှားပြုခဲ့မိတယ်လို့ ထင်ခဲ့ရင် မေ့မေ့ ပျောက်ပျောက်နဲ့ပဲ ခွင့်လွှတ်လိုက်ပါ အင်ဒရေ၊ အမှားကို ကျူးလွန်တဲ့သူများကို ဒဏ်ခတ်ဖို့၊ တုံ့ပြန် လက်စားချေဖို့ လူတွေမှာ အခွင့်အရေး မရှိပေဘူး၊ ဘုရားသခင်သာလျှင် တတ်နိုင် ပေတာပဲ၊ ကိုယ့်အပေါ် အပြစ်ရှိတဲ့လူကို ခွင့်လွှတ် လိုက်ခြင်းဟာ စိတ်ရဲ့ ငြိမ်းချမ်း ခြင်းကို ဖြစ်စေပါတယ် အင်ဒရေ”

“ဒီမှာ အစ်မတော်၊ ကျွန်တော်ဟာ မိန်းမသား တစ်ယောက်ဖြစ်ခဲ့ရင် အစ်မ တော်ပြောသလို ခွင့်လွှတ်နိုင် ပါတယ်၊ ခွင့်လွှတ်ခြင်းဟာ မိန်းမတို့ရဲ့ ပါရမီတစ်ပါး ပါပဲ၊ ဒါပေမဲ့ ကျွန်တော်က မိန်းမ မဟုတ်ဘူး အစ်မတော်၊ ယောကျ်ားသား၊ ယောကျ်ားသား ယောကျ်ားသားဆိုတာ ခွင့်လွှတ်ပြီး မေ့ပစ်လို့ရတဲ့ လူစားမျိုး မဟုတ်ဘူး၊ မရ လဲ မရနိုင်ဘူး”

မင်းသားကလေး အင်ဒရေက ပြန်ပြောလိုက်၏။ မင်းသားကလေး အင်ဒရေ သည် ခပ်စောစောကတည်းက ဒေါသထွက်လျက်ရှိရာ မင်းသမီးကလေး မေရီက ဤသို့ ပြောလိုက်သည်နှင့် တစ်ပြိုင်နက် အနာတိုလီကို အမှတ်ရ လာပြန်ကာ ဒေါသအမျက်တို့ ဗလောင်ဆူလာပြန်သည်။

“အစ်မတော်ထိပ်ထားက အစစအရာရာကို မေ့ ပျောက်ပစ်လိုက်ပြီး ခွင့်လွှတ်ရမယ်တဲ့၊ ဒီလိုဆိုရင် အနာ တိုလီကို ငါလက်စားမချေရတော့ဘူးလား၊

အနာတိုလီကို လက်စားချေတာ မှားတယ်လို့” ဆိုလိုချင်တာလား”ဟု မင်းသား ကလေး အင်ဒရေ တွေးတောလျက်ရှိ၏။ မင်းသား ကလေး အင်ဒရေသည် အစ်မ တော် မင်းသမီးကလေး မေရီအား ပြန်၍ပြောဆိုခြင်း မပြုတော့ဘဲ တပ်ထဲတွင် အမှုထမ်းလျက်ရှိသည့် အနာတိုလီနှင့် တစ်ကွေ့တွင် တွေ့ကြဦးမည်။ သို့တွေ့ရ၍ လက်စားချေလိုက်ရပါက မည်မျှ စိတ်ချမ်းသာခြင်း ဖြစ်လေမည်နည်းဟု တွေးတော လျက် ရှိလေသည်။

ယခုကဲ့သို့ ခမည်းတော်ကြီးနှင့် ကတောက်ကဆ ဖြစ်ပြီးနောက် ပြန်လည် သင့်မြတ်ခြင်း မရှိဘဲ ပြန်သွားမည် ဆိုလျှင် ခမည်းတော်ကြီး များစွာစိတ်ထိခိုက် မည် ဖြစ် ကြောင်း၊ ထို့ကြောင့် နောက်ထပ် တစ်ရက်မျှ ဆိုင်းငံ့ပါ မည့်အကြောင်း မင်းသမီးကလေး မေရီက တောင်းပန်သေး ၏။ သို့သော်လည်း မင်းသားကလေး အင်ဒရေက မိမိ သည် မကြာခင် တပ်မှ ပြန်လာခဲ့မည်ဖြစ်ကြောင်း၊ ထို ( အတောအတွင်း ခမည်းတော်ကြီးထံ စာရေးလိုက်မည် ဖြစ်ကြောင်း၊ သို့ရာတွင် ဤတွင် မိမိဆက်လက်နေထိုင် ခြင်းအားဖြင့် အကျိုးထူးမည် မဟုတ်သည့်ပြင် ပို၍ပင် စိတ်ဝမ်းကွဲစရာ အကြောင်းရှိကြောင်း ပြောဆိုကာ ထွက် လာခဲ့လေသည်။

”ကဲ သွားပေတော့ အင်ဒရေ၊ ကံကြမ္မာဆိုတာမျိုး ဟာ လူလုပ်လို့ရတဲ့ ပစ္စည်းမဟုတ်ဘဲ ဘုရားသခင်က ဖန်ဆင်းပေးလိုက်တဲ့ အရာဖြစ်လေတော့ လူ တွေကိုတော့ အပြစ်မတင်လိုက်ပါနဲ့ဆိုတဲ့ အစ်မတော်ရဲ့ စကားကိုသာ မြဲမြဲ မှတ်ထားပါလို့ အစ်မတော် ပြောလိုက်ပါရစေ အင်ဒရေ”

ဤစကားများမှာ မင်းသားကလေး အင်ဒရေ သွားခါနီးတွင် အစ်မတော် မင်းသမီးကလေး မေရီ ပြော ကြားလိုက်သော စကားများဖြစ်လေသည်။

"လောကကြီးဟာ ဒီလိုပဲပေါ့လေ၊ အစ်မ တော် ထိပ်ထား၊ အစ်မတော်ကို သနားလိုက်ပါဘိတော့ အစ်မတော်၊ ကိုယ့်စိတ်ကို မချုပ်တည်းနိုင်တဲ့ အဖေအို ကြီးရဲ့ လက်ထဲမှာ စိတ်ဒုက္ခရောက်ရဦးတော့မယ်၊ စိတ် ဆင်းရဲရဦးတော့မယ်၊ ခမည်းတော်ကြီးမှာလဲ သူမှားမှန်း သိလျက်နဲ့ သူ့ကိုယ်သူ မပြင်နိုင်၊ ဟင်း ဒီအထဲ သားငယ်ကလေးကလဲ ကြီးလာတော့မယ်၊ လောကကြီးထဲကို ဝင်ရဦးတော့မယ်၊ လူ့ဘဝကြီးထဲမှာ လှုပ်ရှားရဦးတော့မယ်။ လူ့ဘဝကြီးကို ရောက်လာတဲ့ တခြားလူတွေလိုပဲ ကိုယ်က သူတစ်ပါးကိုလိမ်၊ သူတစ်ပါးက ကိုယ့်ကို ပြန်လိမ်နဲ့ အလိမ်အညာ အလှိုင်းတွေ သပွတ်အူလိုက်နေတဲ့ လူ့ဘဝ ကြီးထဲမှာ ရုန်းကန်ရပြန်ဦးတော့မယ်၊ အင်း တကယ်တော့ လူ့ဘဝကြီးဟာ တယ်လို့ စိတ်ပျက်စရာကောင်းလှပါ တကား၊ ကဲ အင်ဒရေ မင်း တပ်ကိုပြန်ရတော့မယ်၊ ဘာ ဖြစ်လို့ တပ်ကိုပြန်သလဲ၊ ဘာဖြစ်လို့ မင်း စစ်တိုက်သလဲ။ မင်းကိုယ်မင်းလဲ ဘာဖြစ်မှန်း မသိပါကလား အင်ဒရေ။ မင်း အင်မတန် ရွံ့မုန်းစက်ဆုပ်တဲ့ မင်းရန်သူကြီး အနာ တိုလီနဲ့ တွေ့လို့ သူက မင်းကို အနိုင်သတ်၊ မင်းအလောင်း ပေါ်မှာ ခြေတင်ပြီး မင်းကို ရယ်စရာ သတ္တဝါတစ်ယောက် အမှတ်နဲ့ ဟက်ဟက်ပက်ပက် ရယ်နိုင်တဲ့အခြေကို ရောက် ရင်လဲ အကောင်းသား"

မင်းသားကလေး အင်ဒရေသည် တောင်ကတုံး စံအိမ်ဝင်းဝသို့ အထွက် သစ်ပင်များ ယှက်မိုးထားသော လမ်းကလေးတစ်လျှောက်တွင် ပြေးနေသည့် ရထားပေါ် ဝယ် လိုက်ပါလာရင်း ဤသို့ တွေးလာမိလေသည်။

မင်းသားကလေး အင်ဒရေသည် ကံအကြောင်း ဆိုးလှသော မိမိ၏ဘဝဟောင်း၌ တစ်ပတ်ပြန်လည်ခဲ့ပြန် လေပြီ။

သို့ရာတွင် ယခင်ကမှ သူ့ဘဝ၊ သူ့ပတ်ဝန်းကျင်၊ သူ့အတွေး၊ သူ့ မျှော်လင့်ချက်တို့သည် တစ်လုံးတစ်စည်း တည်း ရှိ၍ တော်ပါသေးသည်။ ယခုမူ

ထိုအရာအားလုံး သည်လည်း အစိတ်စိတ် အမြွှာမြွှာ ဖြစ်ခဲ့လေပြီ။ ထိုခဏ၌ တစ်ခု နှင့်တစ်ခု ဆက်စပ်၍မရသော အဓိပ္ပာယ်ကင်းမဲ့သည့် အတွေးများသည်သာ မင်းသားကလေး အင်ဒရေ၏စိတ်ထဲ တွင် ဖြစ်ပေါ်လျက် ရှိလေသတည်း။

# အခန်း ၉

မင်းသားကလေး အင်ဒရေသည် ဖွန်လကုန်၌ အနောက် ဘက်ကြောင်းချီ တပ်မတော်ကြီး၏ စစ်ဦးစီးဌာနချုပ်သို့ ရောက်လာခဲ့၏။ ဘုန်းတော်ကြီးသော ဘုရားကိုယ်တော် တိုင် လိုက်ပါလာသည့် ပထမတပ်မတော်ကြီးမှာ ဒရစ်ဆာ မြို့တွင် တပ်ခိုင် တပ်ပုံတည်၍ စွဲထားလျက် ဗိုလ်ချုပ် ကြီး မင်းသားကြီး ဘာဂရေးရှင်း ကွပ်ကဲသည့် ဒုတိယ တပ်မတော်ကြီးကား ပထမတပ်မတော်ကြီးနှင့် ပေါင်းရန် အတွက် ဆုတ်ခွာလျက် ရှိလေသည်။ သို့ရာတွင် ပထမ ( တပ်မတော်ကြီးနှင့် ဒုတိယ တပ်မတော်ကြီးမှာ ယခုအချိန် ထိ မပေါင်းမိကြသေးချေ။ အင်အားကြီးမားလှသော ပြင်သစ်တပ်များ၏ ဖြတ်တောက်ခြင်းကို ခံနေရသည်ဟု ကြားရလေသည်။ တပ်ဗိုလ်၊ တပ်ကြပ်၊ တပ်သားစသည် တို့သည် မိမိတို့၏ ရုရှားတပ်မတော်ကြီးအတွင်း ဖြစ်ပေါ် လျက်ရှိသော အခြေအနေများကို မကျေမနပ်ဖြစ်လျက် ရှိကြ၏။ သို့သော်လည်း နပိုလီယန်သည် ရုရှားနိုင်ငံ အစွန်အဖျား ကျေးလက်ဇနပုဒ်များကို ထိပါးတိုက်ခိုက် လိမ့်မည်ဟူ၍ကား မည်သူမျှ မမျှော်လင့်ကြချေ။ စစ်ပွဲ ကြီးသည် ရုရှားနိုင်ငံ အနောက်ဘက် အစွန်အဖျားနယ် များ ဖြစ်ကြသော စမိုးလင့်နယ်၏ ဤဘက်သို့ ရောက် အောင် ပျံ့နှံ့လာလိမ့်မည်ဟုလည်း မည်သူမျှ မထင်ခဲ့ကြ ချေ။

မင်းသားကလေး အင်ဒရေသည် မိမိ၏ စစ်ဦးစီး ချုပ်သစ် ဗိုလ်ချုပ်ကြီး ဘာကလေဒီတိုလီကို ဒရစ်ဆာ မြစ်ကမ်းရှိ ဌာနချုပ် တပ်စခန်းရုံးတွင် အဆင်သင့် တွေ့ရ ၏။ ဗိုလ်ချုပ်ကြီး ဘာကလေ ဦးစီးသည့် အနောက်ဘက် ကြောင်းချီ တပ်တော်ကြီး တပ်စွဲထားရာ နယ်မြေဒေသမှာ မြို့ကြီး ရွာကြီးဟူ၍ အလျဉ်းမရှိသော ဒေသဖြစ်သည့် အလျောက် တပ်မတော်ကြီးနှင့်အတူ လိုက်ပါလာကြသော

ဗိုလ်ချုပ်ကြီးများ၊ ရွှေနန်းတော် အမှုထမ်းများမှာ ဒရစ်ဆာ မြစ်တစ်ဖက်တစ်ချက်ကို ခွလျက် ခြောက်မိုင်ခန့် အချင်း ဝက်ရှိသော နယ်မြေအတွင်းရှိ ရွာများထဲမှ အကောင်းဆုံး အိမ်များတွင် နေထိုင်လျက်ရှိကြ၏။ ဗိုလ်ချုပ်ကြီး ဘာ ကလေမှာ ဘုန်းတော်ကြီးသော ဘုရား၏ ယာယီစံနန်းနှင့် သုံးမိုင်ခန့်ကွာသောနေရာတွင် စခန်းချလျက် ရှိလေ သည်။ ဗိုလ်ချုပ်ကြီး ဘာကလေသည် မင်းသားကလေး အင်ဒရေကို လက်ခံရာ၌ များစွာ ဟက်ဟက်ပက်ပက် မရှိလှဘဲ ဝတ်ကျေတမ်းကျေမျှသာ လက်ခံတွေ့ဆုံလေ သည်။ ထို့နောက် မင်းသားကလေး အင်ဒရေအား မည်သည့် တာဝန်တွင် ချထားရမည်ကို ဘုန်းတော်ကြီးသော ဘုရားက ဆုံးဖြတ်ပေးတော်မူရန် လျှောက်ထားမည် ဖြစ် ကြောင်း၊ ယခုလောလောဆယ်တွင်မူ စစ်ဦးစီးချုပ်ရုံးတွင် ခေတ္တ တာဝန်ချ ပေးထားမည်ဖြစ်ကြောင်းနှင့် ဂျာမန်အသံ ဝဲဝဲဖြင့် ပြောဆိုခြင်း ပြုလေသည်။ မင်းသားကလေး အင်ဒရေသည် အနောက်ဘက်ကြောင်းချီ တပ်မတော်ကြီး ၌ အနာတိုလီအား တွေ့ရလိမ့်မည်ဟု မျှော်လင့်ထားခဲ့သော်လည်း အနာတိုလီမှာ ဤတပ်မတော်ကြီးတွင်လည်း မရှိတော့ချေ။ အနာတိုလီမှာ ပီတာစဘတ်ရွှေမြို့တော်သို့ ထွက်ခွာသွားခဲ့လေပြီ။ သို့ရာတွင် မင်းသားကလေး အင်ဒရေအဖို့ အနာတိုလီကို မတွေ့ရသည့်အတွက် ဝမ်း မနည်းတော့ချေ။ ဤသတင်းကို ကြားရသည့်အတွက်ပင် ဝမ်းသာမိပေသေး၏။ ယခုအချိန်တွင် မင်းသားကလေး အင်ဒရေမှာ ကြီးကျယ်သော စစ်ပွဲကြီးကို စီမံခန့်ခွဲလျက် ရှိသော စစ်ဦးစီးဌာနချုပ်ရှိ အခြင်းအရာများကို စိတ်ဝင်စား လျက် ရှိခြင်းကြောင့် အနာတိုလီအား တွေးလိုက်တိုင်း ဖြစ်ပေါ်လာသည့် ဒေါမနဿစိတ်များမှာ အခိုက်အတန့်ကင်းဝေးလျက်ရှိခြင်းကို ဝမ်းသာမိသည်။ မင်းသားကလေး အင်ဒရေသည် တာဝန်ထမ်းဆောင်ရခြင်း မပြုမီ ရောက်ခါ ခ လေးရက် အတောအတွင်း၌ တပ်ကြီး တပ်ခိုင် တည် ထားသော စခန်းတစ်ခုလုံးကို မြင်းတစ်စီးဖြင့် လှည့်လည် ကြည့်ရှု၏။ စစ်ပါရဂူများနှင့် ဆွေးနွေးခြင်း၊ မိမိ၏အတွေ့ အကြုံကိုမှီး၍ စဉ်းစားခြင်း စသည့်

နည်းလမ်းများဖြင့်   လည်း တပ်စခန်း၏ အခြေအနေကို အကဲခတ်လျက်ရှိလေသည်။ သို့သော်လည်း မိမိတို့၏တပ်စခန်း တည်နေပုံသည် မိမိတို့အတွက် တစ်ပန်းသာလျက်ရှိသလော၊ ရန်သူအတွက် တစ်ပန်းသာလျက်ရှိသလောဟူသော ပြဿနာကို ဆုံး ဖြတ်၍မရနိုင်အောင် ဖြစ်လျက်ရှိ၏။ မိမိ၏တိုက်ပွဲ အတွေ့ အကြုံနှင့် ဩစတြီးယားတိုက်ပွဲစဉ်မှ အတွေ့အကြုံများ အရဆိုလျှင် စစ်တို့၏သဘောဒ္ဓ ကျနသေချာစွာ စဉ်းစား၍ ရေးဆွဲထားသော စစ်ဆင်ရေးစီမံကိန်းသည် အခရာမဟုတ် ချေ။ ကြိုတင်သိမြင်နိုင်စွမ်း မရှိသော ရန်သူ၏ ရုတ်ချည်းလှုပ်ရှားမှုများကို မည်သည့် နည်းပရိယာယ်ဖြင့် ရင်ဆိုင် သနည်း။ ထိုနည်းပရိယာယ်ကို မည်မျှ တတ်ကျွမ်းလိမ္မာ သော စစ်သူကြီးက မည်သို့မည်ပုံကိုင်တွယ်အသုံးချ သနည်းဆိုသည့် အချက်များအပေါ်၌သာ စစ်ပွဲ၏ အနိုင် အရှုံးသည် တည်ရှိလေသည်။ ဤအချက်ကို သေသေချာ ချာ ဇာစ်ဇာစ်မြစ်မြစ် သိနိုင်ရန်အတွက် မင်းသားကလေး ( အင်ဒရေသည် မိမိ၏ ရာထူးအဆင့်အတန်း၊ မိမိ၏မိတ်ဆွေ ရောင်းရင်းများကို အသုံးချကာ တပ်တော်ကြီးကို အုပ်ချုပ် လျက်ရှိသူ၏ စိတ်နေသဘောထား၊ တပ်မတော်ကြီးထဲ တွင် အရေးပါသော တာဝန်များကို ထမ်းဆောင်လျက် ရှိသည့် ဗိုလ်ချုပ် ဗိုလ်မှူး၊ စစ်ဦး စစ်ကဲများ၏ သဘောထားများကို အပတ်တကုတ် စုံစမ်းလျက်ရှိခဲ့၏။ ယင်းသို့ စုံ စမ်း၍ စေ့ငလောက်ပြီဟု ယူဆသည်နှင့်တစ်ပြိုင်နက် မင်းသားကလေး အင်ဒရေသည် အခြေအနေအရပ်ရပ်ကို အောက်ပါအတိုင်း မိမိ၏စိတ်ထဲတွင် ကောက်ချက် ဆွဲထုတ်လိုက်လေသည်။

ဘုန်းတော်ကြီးသောဘုရားသည် ဝီလနာမြို့တွင် စံမြန်းနေခဲ့စဉ်က (ယခုအချိန်၌ ဝီလနာမြို့မှာ နပို လီယန်၏ လက်ထဲသို့ ကျရောက်သွားလေပြီ။) ရုရှားတပ်မတော်ကြီးကို စစ်ကြောင်းကြီးသုံးကြောင်း ခွဲထားခဲ့ ၏။ ၎င်းတို့ကား ဗိုလ်ချုပ်ကြီး ဘာကလေ ဦးစီးသည့် တပ်မတော်ကြီးတစ်ကြောင်း၊ ဗိုလ်ချုပ်ကြီး ဘာဂရေး

ရှင်း ဦးစီးသည့် တပ်မတော်ကြီးတစ်ကြောင်း ဗိုလ်ချုပ်ကြီး တိုမာဆော့ ဦးစီးသည့် တပ်မတော်ကြီးတစ်ကြောင်းတို့ ဖြစ်ကြ၏။ ဘုန်းတော်ကြီးသော ဘုရားသည် ဗိုလ်ချုပ်ကြီး ဘာကလေ၏ တပ်မတော်ကြီးနှင့်အတူ လိုက်ပါလာခဲ့သော် လည်း စစ်သေနာပတိချုပ်အဖြစ် လိုက်ပါလာခဲ့ခြင်း  မဟုတ်ချေ။ ရွှေနန်းတော်ကြီးမှ ထုတ်ပြန်သော တပ်တွင်း ပြန်တမ်းများ၌လည်း ဘုန်းတော်ကြီးသော ဘုရားသည် တပ်မတော်ကြီးကို ဦးစီးကွပ်ကဲတော် မူမည်မဟုတ်ဘဲ တပ်မတော်ကြီး နှင့် အတူတကွ လိုက်ပါလာတော်မူခြင်း မျှသာ ဖြစ်သည်ဟု ဖော်ပြထား၏။ ဤ သည်နှင့်အညီ ဘုန်းတော်ကြီးသော ဘုရားသည် စစ်သေနာပတိချုပ်တစ်ဦး ၏ အဆောင်အယောင်များကို ခံယူခြင်းလည်းမရှိ၊ စစ် သေနာပတိချုပ် တစ်ဦး၏ ရုံး မှုထမ်းရာထမ်းများကိုလည်း ခေါ်ဆောင်လာခြင်း မပြုဘဲ ရွှေနန်းတော် ရုံး အမှုထမ်း အရာထမ်းများကိုသာ ခေါ်ဆောင်လာခဲ့လေသည်။ ဘုန်း တော်ကြီးလှ သော ဘုရား၏အပါးတွင် ခစားလိုက်ပါလာ သည့် ရွှေနန်းတော်ရုံးအမှုထမ်း ရာ ထမ်းများထဲ၌ ရွှေနန်း တော် ရုံးဌာနအကြီး အကဲဖြစ်သူ တပ်ထောက်ချုပ် မင်းသားကြီး ဗော်လကွန်စကီ၊ (မင်းသားကလေးအင်ဒရေ ၏ ခမည်းတော်နှင့် အမည်ချင်း ဆင်သည်။)နှင့်တကွ ဗိုလ်ချုပ်ကြီးများ၊ ရွှေနန်းတော် ကိုယ်ရံတော် ဗိုလ်မင်းများ၊ သံတမန်ဆိုင်ရာ အမှုထမ်း ရာထမ်းများ၊ နိုင်ငံခြားသား မှုထမ်းရာထမ်းများ ပါဝင်ကြ၏။ ၎င်းတို့အားလုံးမှာ စစ်မှုတော်ထမ်းများ မဟုတ် ကြချေ။ ဤမှုထမ်းရာထမ်းများ အပြင် ရာထူး အတည်တကျ ခန့်ထားခြင်း မခံရ သေးသူ အများအပြားလည်း ဘုန်းတော်ကြီးသော ဘုရားကို ခစား လျက် လိုက်ပါ လာကြသေး၏။ ၎င်းတို့မှာ စစ်ဝန်ကြီး ဟောင်း အာရက်ချေ၊ မှုထမ်းသက်ရင့် အထက်တန်း ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်၊ အလက်ဇန်းဒရား ဘုရင်မင်း မြတ်၏နောင်တော် အိမ်ရှေ့ ဥပရာဇာ မင်းသားကြီး ကွန်စတင်တိုင်း ပက်ဗလိုဗစ်၊ ရွှေတိုက်ဝန်ကြီး မြို့စားကြီး ရှန်းယန်းဆက်၊ ပရပ်ရှားနိုင်ငံ ဝန်ကြီးဟောင်းတစ်ပါး

ဖြစ်သူ စတိန်း၊ ဆွီဒင်လူမျိုး ဗိုလ်ချုပ်ကြီးတစ်ဦးဖြစ်သူ အမ်းဖဲ၊ လက်ရှိ စစ်ဆင်ရေးစီမံကိန်းကို ဗိုလ်ချုပ်ဟောင်း ဖူးဝဲလ်၊ ယခင်က ပြင်သစ် သစ္စာတော်ခံ တပ်ရေးချုပ် တစ်ဦးဖြစ်သူ မြို့စားကြီး ပေါ်လတ်ဆွေ၊ ပရပ်ရှားလူမျိုး ဗိုလ်ချုပ် တစ်ဦးဖြစ်သူ ဒေါ်ဇိုဂျင် စသည် တို့နှင့်တကွ အခြားမှူထမ်းရာထမ်းများစွာတို့ ဖြစ်၏။ ဤပုဂ္ဂိုလ်များသည် တပ်မတော်ထဲတွင် ရာထူး လက်ကိုင် မရှိကြ သော်လည်း ဘုန်းတော်ကြီးလှသော ဘုရား၏ လူယုံတော်များ ဖြစ်သည့်အတွက် တန်ခိုးကြီးလျက်ရှိကြ လေသည်။ ၎င်းတို့သည် တစ်ခါတစ်ရံ၌ တပ်မှူးများနှင့် တကွ စစ်ဦးစီးချုပ်ကိုပါ မေးခွန်းများထုတ်ခြင်း၊ အကြံ ဉာဏ်များပေးခြင်းတို့ကို ပြုလုပ်တတ်ကြသည့်အတွက် တပ်မှူးများနှင့်တကွ စစ်သေနာပတိချုပ်တို့၏ စိတ်၌ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်၊ အိမ်ရှေ့ ဥပရာဇာမင်းသားကြီး၊ စစ်ဝန်ကြီး ဟောင်း အာရတ်ချေ၊ သို့မဟုတ် တပ်ထောက် ချုပ်မင်းသားကြီး. ဖော်လကွန်စကီ တို့သည် မိမိတို့အား မည်သည့်အခွင့်အာဏာဖြင့် ဤသို့ မေးခွန်းများထုတ်ခြင်း၊ အကြံဉာဏ်များ ပေးခြင်းတို့ကို ပြုလုပ်ကြပေသနည်းဟု စဉ်းစား၍ မရ အောင်ဖြစ် လျက် ရှိကြလေသည်။ တစ်ခါ တစ်ရံ၌လည်း ထိုပုဂ္ဂိုလ်ကြီးများသည် အကြံဉာဏ် ပေး သလိုလိုဖြင့် အမိန့်ပေးတတ်ကြ၏။ ထိုအမိန့်များသည် လည်း ထိုပုဂ္ဂိုလ်ကြီး တို့က ပေးသော အမိန့်လော၊ ဘုန်း တော်ကြီးသော ဘုရားက ပေးတော်မူသည့် အမိန့်လော၊ ထိုအမိန့်အတိုင်း လိုက်နာရအံ့လော၊ မလိုက်နာဘဲ နေရအံ့ လောဟု လည်း ရှင်းလင်းစွာ မသိကြရချေ။ ဤသို့ဖြင့် စေသေနာပတိချုပ်မှအစ စစ်မှူး၊ စစ်ကဲ၊ ဗိုလ်၊ အကြပ်၊ တပ်သား အားလုံးတို့သည် တပ်မတော်ကိစ္စများ၌ ရွှေနန်း တော် မင်းမှုထမ်းများ ဝင်ရောက်စွက်ဖက်နေခြင်းကို မခံ မရပ်နိုင်ဖြစ်လျက် ရှိ ကြ၏။ ဤသည်တို့ကား ရုရှား တပ်မတော်ထဲတွင် ဖြစ်ပျက်နေသော အပြင်ပန်း အခြေအနေ ဖြစ်သည်။ သို့ ရာတွင် ရွှေနန်းတော် မှုထမ်းရာထမ်းများ၏ အမြင်၌လည်း (ဤတွင်လည်း ထီးတော်မိုးကအစ ဘုရင့် အပါးတွင် ခစားသူမှန်

သမ္မု ရွှေနန်းတော်သားချည်း ဖြစ်နေ ပြန်သဖြင့် အခက်ကြုံရသည်။) တပ်မတော်ကြီးနှင့်အတူ ဘုန်းတော်ကြီးသော ဘုရားနှင့်တကွ မိမိတို့ ရွှေနန်းတော် သားများကိုယ်တိုင် လိုက်ပါလာရခြင်းသည် လွန်စွာ ဝိသေသထူးသော အချက်ကြီးဖြစ်သည်။ မိမိတို့မပါလျှင် မဖြစ်သည့်အတွက် လိုက်ပါလာရခြင်း ဖြစ်သည်ဟုအထင် ရောက်လျက် ရှိကြ၏။ ၎င်းတို့၏ အကြောင်းပြချက်ကား ဤသို့ ဖြစ်၏။ ဘုန်းတော်ကြီးလှသော ဘုရားသည် စစ်သေနာ ပတိချုပ်အရာကို ခံယူခြင်းမပြုသော်လည်း တပ်မတော် များကို စီမံခန့်ခွဲခြင်း၊ အကြံဉာဏ်ပေးခြင်းများ ပြုလုပ်လျက်ရှိရာ ဘုန်းတော်ကြီးသော ဘုရားအပါးတွင် ( ခစားလိုက်ပါလာကြသော မိမိတို့ ရွှေနန်းတော် အမှုထမ်း များသည် ဘုန်းတော်ကြီးလှသော ဘုရား၏အတိုင်ပင်ခံ  များ ဖြစ်သည့်အလျောက် မိမိတို့လည်း ဝင်ရောက်စွက်ဖက် ပြောဆိုပိုင်ခွင့်ရှိသည်။ ဝင်ရောက်စွက်ဖက်နိုင်သော အရည် အချင်းလည်း ရှိသည်ဟုယူဆကြလေသည်။ ဥပမာအားဖြင့် စစ်ဝန်ကြီးဟောင်း အာရတ်ချေသည် ဘုန်းတော်ကြီး လှသော ဘုရား၏ ကိုယ်ရံတော် ဗိုလ်ချုပ်တစ်ဦးမျှသာမက ဘုရင်၏အမိန့်ပြန်တမ်းများကို မှုထမ်းရာထမ်းများက လိုက်နာဆောင်ရွက်အောင် ပြုလုပ်ရာ၌ ကွပ်ကွပ်ညှပ်ညှပ် စီမံတတ်သူတစ်ဦး ဖြစ်သည်။ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်သည် ဝီလနာနယ်သားဖြစ်သည့်အလျောက် ဘုန်းတော် ကြီးသော ဘုရားဝီလနာနယ်တွင် စံမြန်းတော်မူစဉ် လိုက်ပါ ခစားရမည့် ဝတ္တရားရှိ၍ လိုက်ပါလာခြင်းဖြစ်သည်။ ထိုမျှမက အစီအမံကျွမ်းသော ဗိုလ်ချုပ်ကောင်းတစ်ဦး ဖြစ်နေပြန်ကာဘုရင့်အတိုင်ပင်ခံအဖြစ် အသုံးဝင်လျက် ရှိသည့်ပြင် အရေးကြုံလျှင် အနောက်ဘက်ကြောင်းချီ တပ်မတော်၏ စစ်ဦးစီးချုပ် ဗိုလ်ချုပ်ကြီး ဘာကလေ၏နေရာ၌(နယ်ကျွမ်းသူပီပီ) အစားထိုးနိုင်သေးသည်။ နောင် တော် အိမ်ရှေ့ဥပရာဇာမင်းသားကြီး လိုက်ပါခစားခြင်း ကိုကား အထူးဆိုဖွယ်မရှိ။ ဘုန်းတော်ကြီးလှသောဘုရား ကြွချီရာတွင် နောက်တော်ပါးက လိုက်ပါခစားရမည်သာ ဖြစ်သည်။ ပရပ်

ရှား ဝန်ကြီးဟောင်း စတိန်း လိုက်ပါလာ ခြင်းမှာ စတိန်း၏အကြံဉာဏ် သည် အသုံးဝင်အဖိုးတန်၍ ဘုန်းတော်ကြီးလှသော ဘုရား ကိုယ်တော်တိုင်ကလည်း လက်ရုံးတစ်ဆူသဖွယ် အားကိုး အားထားပြုခြင်းခံရသူ တစ်ယောက်ဖြစ် သည့်အတွက် လိုက်ပါလာခြင်း ဖြစ်သည်။ ဆွီဒင် ဗိုလ်ချုပ်ကြီးတစ်ဦး ဖြစ်သူ အမ်းဖဲ လိုက်ပါလာ ခြင်းမှာကား ၎င်းသည် နပိုလီယန်ကို တူးတူးခါးခါး မုန်းတီးသူတစ် ယောက်ဖြစ်၍ ဘုန်းတော်ကြီးသော ဘုရား အပေါ်တွင် လွှမ်းမိုးနိုင်သည့် အရည်အချင်း တစ်ခုဖြစ်သော ကိုယ့်ကိုယ်ကို ယုံကြည်စိတ် အပြည့်အဝရှိသည့် ဗိုလ်ချုပ် တစ်ဦးဖြစ်သောကြောင့် လိုက်ပါလာခြင်း ဖြစ်သည်။ တပ်ရေးချုပ်တစ်ဦး ဖြစ်သော မြို့စားကြီး ပေါ်လတ်ဆွေ လိုက်ပါလာခြင်းမှာ သူရသတ္တိအရာ တွင် ပြောင်မြောက်၍ စကားအရာတွင် ရဲရင့်လိမ္မာခြင်းကြောင့် လိုက်ပါလာခြင်း ဖြစ်သည်။ တပ်ရေးချုပ်များ လိုက်ပါလာရခြင်း ဘုရင် မင်းမြတ် ကြွချီရာတွင် မပါ မပြီးသူများ ဖြစ်သည့်အတွက် ကြောင့် လိုက်ပါလာရခြင်းမှာ ဖြစ်သည်။ ဖူးဝဲလ် လိုက်ပါ  လာခြင်း အကြောင်းကိုကား ပြောဖွယ်ပင် မလိုတော့ချေ။ ဖူးဝဲလ်သည် နပိုလီယန်ကို တိုက်ထုတ်မည့် ယခုစစ်ဆင်ရေး စီမံကိန်းကို ရေးဆွဲသူ မဟုတ်လော။ ဤစစ်ဆင်ရေး စီမံကိန်းကြီး၏ အကျိုးအာနိသင်များကို ဘုရင်မင်းမြတ် ( သက်ဝင်ယုံကြည်လာအောင် လျှောက်တင်ကာ လက်ရှိ စစ်ပွဲကြီး၏ ကိစ္စအဝဝကို စီမံခန့်ခွဲလျက် ရှိသူ မဟုတ် လော။ ဖူးဝဲလ်နှင့်အတူ ပရပ်ရှား ဗိုလ်ချုပ်တစ်ဦးဖြစ် သူ ဝေါဇိုဂျင်လည်း လိုက်ပါ လာသေး၏။ ဝေါဇိုဂျင်ကား "ငါ့လိုလူ ဇမ္ဗူမရှိ" ဆို လောက်သည်အထိ ကိုယ့်ကိုယ်ကို ယုံကြည်မှု ပြင်းထန်လျက် သေနင်္ဂဗျူဟာ ကျမ်းများကို ထုံးလိုချေ ရေလိုနှောက်နိုင်သော စစ်သဘော တရားရေး ( ပါရဂူတစ်ဦး ဖြစ်ရုံမျှမက ဖူးဝဲလ်၏ စစ်ဆင်ရေး စီမံကိန်း ကို အကျယ်ဝိတ္ထာရ ချဲ့ပြရှင်းလင်း ခြင်းအရာတွင် ဖူးဝဲလ် ရှင်းပြသည်ထက် တစ်ဖက်သား နားလည်အောင် ရှင်းပြ တတ်သူတစ်ဦး ဖြစ်သည်မဟုတ်လော။

ဤသို့ဖြင့် စစ်ဦးစီးချုပ်နှင့်တကွ တပ်မတော်ရှိ တပ်မိုလ်၊ တပ်ကြပ်၊ တပ်သားများက ဘုရင့်အပါးတွင် ( ခစားလိုက်ပါလာသူ ပုဂ္ဂိုလ်များအား တပ်မတော်ကိစ္စများ တွင် စွက်ဖက်နေသူများဟု ထင်ကြသော်လည်း ထိုပုဂ္ဂိုလ် များ ကိုယ်တိုင်ကမူ မိမိတို့သည် ဘုရင်၏အတိုင်ပင်ခံများ ဖြစ်ကြသည့် အားလျော်စွာ ဘုရင်ကိုယ်တော်တိုင် တပ် မတော်နှင့် ချီတက်လိုက်ပါလာသည့် အခါတွင် စွက်ဖက် ပိုင်ခွင့် ရှိကြသည်။ စွက်ဖက်ခြင်းလည်း ပြုသင့်ကြသည်ဟု ယူဆလျက် ရှိကြလေသည်။

ရုရှားတပ်မတော်ကြီးနှင့် လိုက်ပါလာကြသူများ မှာ နေ့စဉ်နှင့်အမျှ စစ်ပညာ သဘောတရားသစ်များကို တီထွင်လျက် ရှိကြသော အထက်ပါ ပုဂ္ဂိုလ်ကြီးများသာ မကသေးချေ။ ထိုပုဂ္ဂိုလ်ကြီးများ၏ လက်အောက်ငယ်သား အမှုထမ်းများလည်း ပါ ပေသေးသည်။ (စစ်ပညာ သဘော တရားများကို နေ့စဉ်နှင့်အမျှ တီထွင်လျက် ရှိ သူများမှာ နိုင်ငံခြားသား မင်းမှုထမ်းများသာ ဖြစ်ပေသည်။ ၎င်းတို့ သည် မိမိတို့ နိုင်ငံတွင် အမှုထမ်းဆောင်ကြခြင်းမဟုတ် သည့်အတွက် အကျိုးပျက်လျှင်လည်း မိမိတို့ လူမျိုးအကျိုး ပျက်ခြင်း မဟုတ်ဟူသော သဘောဖြင့် စစ်ပညာသဘော တရားသစ်များကို ရဲရဲကြီး စမ်းသပ်တီထွင်လျက် ရှိကြ လေသည်။

ဤသို့ဖြင့် ဘုန်းတော်ကြီးသောဘုရားအပါး တွင် ခစားလိုက်ပါလာကြသည့် စစ်ပါရဂူကြီးများသည် နေ့စဉ် နှင့်အမျှ စစ်ဗျူဟာ သဘောတရားသစ်များကို တီထွင်လျက် ရှိရုံသာမကသေး။ တစ်ဦးနှင့်တစ်ဦးလည်း မာနချင်း၊ အရည်အသွေး ချင်း၊ ပညာချင်း ပြိုင်လျက်ရှိကြကာ သေနင်္ဂ ဗျူဟာကိစ္စများ၌ အယူအဆကွဲ လျက် ရှိ၏။ ၎င်းတို့မှာ အယူအဆအလိုက် အောက်ပါအတိုင်း အုပ်စုကွဲလျက်ရှိ ခြင်းကို မင်းသားကလေး အင်ဒရေ တွေ့ရသည်။

ပထမအုပ်စု၌ လက်ရှိစစ်ဆင်ရေး စီမံကိန်းကို ရေးဆွဲသူ ဖူးဝဲလ်နှင့် ၎င်း၏နောက်လိုက်များ ပါဝင်ကြ၏။ ၎င်းတို့ကား စစ်ဗျူဟာ သဘောတရားရေး ပါရဂူများဖြစ် ကြ၍ သေနင်္ဂဗျူဟာ အတတ်ပညာ စည်းကမ်း ဥပဒေ တို့သည် မည်သည့်အခါမျှ ပြောင်းလဲခြင်း မရှိ၊ တရားသေ ယူဆထားကြသူများ ဖြစ်၏။ ၎င်းတို့သည် ဝါရိဝေဂဗျူဟာ ခေါ် ရေယဉ်ဆင်းသည့်နှယ် တပ်ဖွဲ့ ၍ စစ်ထိုးနည်း၊ ဒီဇာဒီပဗျူဟာ ခေါ် ဂဠုန်တောင်သဖွယ် တပ်ဖြန့်၍ ရန်သူကို ဘေးပန်းမှ သိမ်းပိုက်စစ်ထိုးနည်း စသည့် သမားရိုးကျ စစ်ဗျူဟာကို ယုံကြည်ကြသူများ ဖြစ်သည်။ လက်ရှိအခြေ အနေ၌ ရုရှားတပ်များသည် စုံ၊ ရဂုံ၊ စေးပျစ်၊ စိမ့်၊ မြိုင်၊ ဂနိုင်၊ ပိတ်ပေါင်းနှင့်တကွ ချောင်း၊ မြောင်း၊ ထုံးအိုင်၊ ပဏ္ဏားတို့ ထူထပ်သော ဒေသသို့ ဆုတ်ခွာပေးကာ ရန်သူ ကျွံ၍ လိုက်လာအောင် စစ်မြူသည့်ပရိယာယ်ကို သုံးသင့်သည်။ ထိုသို့ ဆုတ်စစ် ခွာစစ်ပြု၍ ရန်သူကို ဥပါယ် တံမျဉ်ဖြင့် စစ်မြှူစစ် ပရိယာယ်များ၊ စစ်သဘောတရားများ နှင့် တစ်ညီတည်း တစ်ချက်တည်း ပြုသင့်သည်ဟု ၎င်း တို့က တင်ပြကြ၏။ ထိုသဘောတရားများမှ သွေဖည် တိမ်းစောင်းခြင်းဟူသမျှကို ရှေးလူရိုင်းတို့၏ စစ်ဆုတ် နည်း၊ မိမိစစ်သည်ရဲမက် အသေအပျောက် အရှုအနာများ အောင် မကောင်းကြံ၍ စစ်ဆုတ်နည်း၊ စစ်ပရိယာယ် မ ကျွမ်းသူ 'နလပိန်းတုံး" တို့၏ စစ်ဆုတ်နည်းဟု ကင်ပွန်း တပ်ကြ၏။ ထိုအုပ်စုထဲ၌ နိုင်ငံခြားသား မှူးကြီးမတ်ရာ သေနာပတိများဖြစ်သော ဝေါ်ဇိုဂျင်၊ ဝန်ဇင်ဂျီရိုဒီ စသူတို့ ပါဝင်၍ အများစုမှာ ဂျာမန်ဗိုလ်ချုပ်များ ဖြစ်လေသည်။

ဒုတိယအုပ်စုကား ပထမအုပ်စုနှင့် ဆန့်ကျင်ဘက် ဖြစ်၏။ တစ်ဖက်စွန်းကျသော အယူအဆတစ်ခုကို အခြား တစ်ဖက်စွန်းကျသော အယူအဆတစ်ခုက ဆန့်ကျင်  အတိုက်အခံပြုခြင်းမှာ ဓမ္မတာဖြစ်သည့်အလျောက် ထို အုပ်စု၏ အယူအဆသည် ပထမအုပ်စု၏ အယူအဆနှင့် တောင်မြောက် ဆန့်ကျင်လျက်ရှိ၏။ ၎င်းတို့မှာ အများ အားဖြင့် သဘောတရားရေးသမားများ မဟုတ်ကြဘဲ လက်တွေ့

သမားများ ဖြစ်၏။ ၎င်းတို့ အယူအဆမှာ ရုရှားတပ်များကို ဆုတ်ခွာခြင်း မပြုစေ သင့်။ ရေးဆွဲပြီး ဖြစ်သော ဆုတ်ခွာရေး စီမံကိန်းများကို အားလုံးဖျက်သိမ်း ၍ ဝီလ နာမှ ပိုလန်ပြည်ထဲသို့ ထိုးစစ်ဆင် ဝင်ရောက်သွား သင့်သည်ဟူ၍ ဖြစ်၏။ ၎င်းတို့ က ခွာစစ်ကို မတိုက်လို ပြီ။ သေမြေကြီး ရှင်ရွှေထီးဆိုသကဲ့သို့ ထိုးစစ်ကိုသာ တိုက်လိုသည်။ တိုက်သင့်သည်ဟု ရှေ့နေလိုက်ကြရုံမျှ မက ဇာတိမာန် ဇာတိသွေး ထက်သန်လျက် ရှိခြင်းကြောင့် လည်း အငြင်းပွားမိလျှင် တစ်ယူသန် ဖွတ်မိုတ်၍ ငြင်း တတ်ကြသူများ ဖြစ်သည်။ ထိုအုပ်စုဝင်များကား ဗိုလ်ချုပ် ကြီး ဘာဂရေး ရှင်း၊ ဗိုလ်ချုပ်ကြီး အာမိုလော့ -(ယခုမှ စစ်မြေပြင်သို့ ချီတက်လာဆဲ ဖြစ်သည်။)နှင့် အခြားသူ များဖြစ်ကြ၍ အများစုက ရုရှားဗိုလ်ချုပ်များ ဖြစ်ကြ၏။ ထိုအချိန်က ရွှေနန်းတော်ထဲ၌ ဂျာမန်တို့ တန်ခိုးထွားလွန်း ကြရကား မိမိအား ဂျာမန်လူမျိုးတစ်ဦးအဖြစ်သို့ သူကောင်း ပြု ချီးမြှင့်ပါမည့်အကြောင်း ဘုရင်မင်း မြတ်ထံ တင်လျှော သွင်းဖို့ ကောင်းတော့သည်ဟူသော ဗိုလ်ချုပ် အာမိုလော့၏ သောလုံးမှာ ခေတ်စားလျက်ရှိ၏။ ဒုတိယအုပ်စုဝင်များက မိမိတို့ ရုရှားများသည် ရေးစစ်သူရဲကောင်း စစ်သူကြီး ဆူဗိုရော့၏ အစဉ်အဆက်များ ဖြစ်ကြောင်း၊ စစ်ပွဲ တစ်ပွဲ၌ တပ်မှူးတို့လုပ်ရမည့် အလုပ်မှာ စဉ်းစားခြင်း၊ မြေပုံကို အပ်နှင့်ထောက်၍ စီမံကိန်းချခြင်းတို့ မဟုတ်ဘဲ စစ်မြေသို့ ထွက်၍ ကိုယ်ထိလက်ရောက် တိုက်ခိုက် ခြင်း၊ ရန်သူကို ဗုန်းဗုန်းလဲအောင် ထိုးနှက်ခြင်း၊ မိမိနယ်မြေထဲမှ မောင်း ထုတ် ခြင်း၊ မိမိ၏ တပ်သားများအား စိတ်ဓာတ်မကျဆင်း အောင် ထိန်းသိမ်း ကာကွယ်ခြင်းတို့သာ ဖြစ်ကြောင်းဖြင့် ပြောဆိုလျက်ရှိကြ၏။

တတိယအုပ်စုမှာ ပထမအုပ်စုနှင့် ဒုတိယအုပ်စုကို စေ့စပ်ပေးရန် ကြိုးစား လျက်ရှိသည့် ရွှေနန်းတော် အမှု ထမ်းများ၏ "ကြားအုပ်စု" ဖြစ်သည်။ ထိုအုပ်စု သည် ဘုန်း တော်ကြီးသော ဘုရား၏ အများဆုံး ကိုးစားယုံကြည်ခြင်း ခံရသည့် အုပ်စုဖြစ်၏။ ၎င်းအုပ်စုဝင်များမှာ စစ်မှုထမ်း မဟုတ်သူ အများဆုံး ပါဝင်၏။ စစ်

ဝန်ကြီးဟောင်း အာ ရတ်နေ့မှာ ထိုအုပ်စုဝင် ဖြစ်လေသည်။ ထိုအုပ်စုဝင်များ သည် ယုံကြည်ချက် ခိုင်ခိုင်မာမာ မရှိသော်လည်း ရှိလေ ဟန် ပြုကြသည့်လူများ ထုံးစံအတိုင်း ယောင်ဝါးဝါးတွေး ကာ ယောင်ဝါးဝါးပြောလျက် ရှိကြ၏။ ၎င်းတို့က စစ်ပွဲ တစ်ပွဲ၊ အထူးသဖြင့် ဘိုနာပတ်ကဲ့သို့သော (၎င်းတို့သည် ယခုအချိန်၌ နပိုလီ ယန်ကို ဘိုနာပတ်ဟု မလိုတမာ ခေါ်နေကြပြန်လေပြီ။) စစ်ဗျူဟာအတတ်တွင် တေဒဂ်ရ သည့် စစ်ဘုရင်တစ်ဦးနှင့် တိုက်ရသည့်စစ်ပွဲမျိုး၌ သေချာ ကျနစွာ ရေးဆွဲထားသည့် စစ်ဗျူဟာစီမံကိန်း၊ သိပ္ပံနည်း ကျသည့် သေနင်္ဗျူဟာဆိုင်ရာ အသိအမြင်များရှိရန် လိုအပ်ကြောင်း၊ ဤနေရာမျိုးတွင်မူ လက်ရှိစစ်ဆင်ရေး စီမံကိန်းကို ရေးဆွဲသူ ဖူးဝဲလ်မှာ သူမတူအောင် တစ်ဖက် ကမ်းခတ်သော စစ်ပါရဂူ ကြီးတစ်ဦးဖြစ်ကြောင်း၊ သို့ရာတွင် တစ်ဖက်၌လည်း ဖူးဝဲလ်ကဲ့သို့ စစ်ဗျူဟာ သိပ္ပံပညာများ၊ သေနင်္ဗျူဟာကျမ်းများကို ထုံးလိုချေ ရေလိုနှောက်နိုင်စွမ်း ရှိ သည့် စစ်ပါရဂူတို မည်သည် “စာအုပ်ကြီး” ဆန်လှ ကြောင်း၊ တရားသေကျကျ တွေးခေါ်တတ်ကြောင်း၊ ဤ သည်ကို သတိချပ်သင့်ကြောင်း၊ ထို့ကြောင့် ၎င်းတို့ကို လည်း အကြွင်းမဲ့ ယုံကြည်ကိုးစားနေ၍ မဖြစ်ကြောင်း၊ ဝဲလ်ကို ဆန့်ကျင်သူ၊ စစ်တိုက်ခြင်း၌ အတွေ့အကြုံ ရှိသူ လက်တွေ့သမားများ၏ စကားများကိုလည်း ထည့် သွင်းစဉ်းစားသင့်ကြောင်း၊ ထိုသို့ လက်တွေ့သမားနှင့် သဘောတရားဆရာ တို့၏ နှစ်ဖက်စကားကို ကြားနာပြီးမှ သင့်နိုးရာတို့ကို ပေါင်းစပ်ရောမွှေကာ မဇ္ဈိမပဋိပဒါနည်းကို ရွေးချယ်သင့်ကြောင်းဖြင့် ပြောဆိုကြသည်။ ၎င်းတို့က ဖုဝဲ လ်၏ လက်ရှိစီမံကိန်းအတိုင်း ဒရစ်ဆာမြစ်ကမ်းနဖူး ၌ တပ်ကြီးတပ်ခိုင်တည်၍ ခံ သင့်ကြောင်း၊ သို့ရာတွင် အခြားသော တပ်မတော်များကိုမူ တပ်ခိုင် တပ်လုံ့စွဲ၍ မ နေစေဘဲ စစ်လျင် စစ်ဖျားအဖြစ် နေရာအနှံ့အပြား လှုပ်ရှားနေစေသင့်ကြောင်းဖြင့် ဆိုကြ၏။ အမှန်အားဖြင့် တတိယအုပ်စု၏ မဇ္ဈိမပဋိပဒါနည်းသည် မည်သည့် ည် ရွယ်ချက်ကိုမျှ ပြီးမြောက်စေမည့် နည်းလမ်းမဟုတ် သော်လည်း ထိုအုပ်စုဝင်တို့ အဖို့ကား ၎င်းတို့၏ နည်းသာ တွင် အကောင်းဆုံးဟု ယူဆလျက် ရှိကြလေသည်။

စတုတ္ထအယူအဆကို ခေါင်းဆောင်သူမှာ ဘုန်း တော်ကြီးလှသော ဘုရား၏နောင်တော် အိမ်ရှေ့ဥပရာဇာ မင်းသားကြီး ဖြစ်လေသည်။ နောင်တော် အိမ်ရှေ့ဥပရာဇာ မင်းသားကြီးသည် ဩစတားလစ်တိုက်ပွဲတုန်းက ဗိုလ်ရှူ သဘင် တက်သကဲ့သို့ မြင်းတပ်ဗိုလ် ဝတ်စုံကိုဝတ်လျက် စစ်ရထားကို စီးနင်းကာ စစ်မြေပြင်သို့ ကိုယ်ရံတော် ( တပ်ဦးမှ ချီတက်ခဲ့သူဖြစ်၏။ ထိုစဉ်က မိမိတို့တပ် များ သည် ပြင်သစ်တပ်များကို အောင်မြင်စွာ ချေမှုန်းနိုင်လိမ့် မည်ဟု နောင်တော် အိမ်ရှေ့ဥပရာဇာမင်းသားကြီး မျှော် လင့်ခဲ့သော်လည်း မိမိအထင်နှင့် ပါစင်အောင်လွဲပြီး ဘ တစ်ပြန် ကျားတစ်ပြန်တိုက်နေသည့် ရှေ့တန်းစစ်မျက်နှာ တွင် ပိတ်မိလျက်သားဖြစ်ကာ နှစ်ဖက်စစ်သည်တို့ အထွေး ထွေးရှိကြသည့် ကြား ထဲမှ မသေရုံတစ်မည် ရုန်းထွက်လာ ခဲ့ရသူဖြစ်၏။ နောင်တော် အိမ်ရှေ့ ဥပရာဇာ မင်းသားကြီး သည် ဩစတားလစ်စစ်ပွဲ၌ ဤသို့ အထင်နှင့်အမြင် တခြားစီ ဖြစ်ခဲ့ရ ခြင်းကို မမေ့နိုင်သေးချေ။ ထိုစတုတ္ထ အုပ်စုဝင်များသည် အခြေအနေအရပ်ရပ်ကို မှန်ကန်စွာ ဆင်ခြင်သုံးသပ်နိုင်ခြင်းဟူသော တော်ကွက်များ ရှိသ လောက် မိမိ တို့၏ ထင်မြင်ချက်ဟူသမျှကို မညှာမတာ ပြောင်ပြောင်တင်းတင်း ပွင့်ပွင့်လင်း လင်း ပြောဆိုတတ် ခြင်းတည်းဟူသော ဩကွက်များလည်း ရှိကြသူများဖြစ်၏။ ထိုအုပ်စုဝင်တို့သည် နပိုလီယန်ကို ကြောက်ရွံ့ လျက်ရှိကာ နပိုလီယန်၏ စစ် အင်အားကြီးမားခြင်းနှင့် မိမိတို့၏ စစ် ( အင်အားနည်းပါးလွန်းခြင်းကို အမှန် အတိုင်း အသိအမှတ် ပြုကြသည်။ ဤသို့ ယူဆကြောင်းကိုလည်း မကွယ် မ ထောင့် ထုတ်ဖော်ပြောဆိုကြလေသည်။ “ဤအတိုင်းသာ နပိုလီယန်ကို ခံချေက ငါတို့၌ ပူဆွေးရခြင်း၊ အရှက်ကွဲ ခြင်း၊ ပျက်စီးခြင်းတို့သာ အဖတ်တင်မည်။ ငါ တို့သည် ဝီလနာနှင့် ဂီတက်မြို့များကို စွန့်လွှတ်ခဲ့ရပြီ မဟုတ်လော။

ယခုလည်း ဒရစ်ဆာကို စွန့်လွှတ်ရဦးမည် မုချဖြစ်သည်။ ငါတို့အဖို့ ဆင်ခြင်တုံတရားနှင့်အညီပြုရန် ကျန်သော တစ်ခုတည်းသောအမှုကား နပိုလီ

ယန်နှင့် ငြိမ်းချမ်းရေး စာချုပ်ကို ဆောလျင်နိုင်သမျှ ဆောလျင်စွာ ချုပ်ဆိုခြင်းသာ ဖြစ်တော့သည်။ သို့မဟုတ်က အရေးလစ်လပ်၍ ငါတို့ အားလုံး ပီတာစဘတ် ရွှေမြို့တော်မှ ထွက်ပြေးရသည့် ( အဖြစ်သို့ ရောက်ချိမ့်မည်။ ဤကား စတုတ္ထ အုပ်စုဝင်တို့ ၏ အဆိုတည်း။

စတုတ္ထအုပ်စုဝင်တို့၏ အယူအဆမှာ ထိုအချိန် တွင် တပ်မတော် အထက်တန်း စစ်အရာရှိကြီးများကြား၌ လည်း ပျံ့နှံ့နေပြီ ဖြစ်လေသည်။ ထိုမျှ မက ပီတာစဘတ် ရွှေမြို့တော်ရှိ အရာရှိ အရာခံကြီးများကလည်း နှစ်သက် လျက် ရှိ၍ နိုင်ငံငြိမ်ဝပ်ပိပြားရေးအတွက် ငြိမ်းချမ်းရေး ချုပ်ဆိုရန် လိုလားလျက်ရှိသော ရွှေတိုက်ဝန် ရွှန်ယန်း ဆက်ကလည်း ထိုအယူအဆကို ထောက်ခံလျက် ရှိ၏။

. ပဉ္စမအုပ်စုတွင်ကား အနောက်ဘက်ကြောင်းချီ တပ်မတော်ကြီး၏ ဦးစီး ချုပ် ဗိုလ်ချုပ်ကြီး ဘာကလေ၏ နောက်လိုက်များ ပါဝင်ကြ၏။ ပဉ္စမအုပ်စုဝင်တို့ က ဗိုလ်ချုပ်ကြီး ဘာကလေအား ထောက်ခံကြခြင်းမှာ ဗိုလ် ချုပ်ကြီး ဘာက လေ၏ အရည်အချင်းကို သဘောကျခြင်း ထက် စစ်ဝန်ကြီးနှင့် အနောက်ဘက် ကြောင်းချီ တပ်မကြီး ၏ ဦးစီးချုပ်ဖြစ်နေခြင်းဟူသော အကြောင်းများကြောင့် ဖြစ်၏။ ၎င်းတို့၏အဆိုကား “ဗိုလ်ချုပ်ကြီး ဘာကလေ သည် မည်သည့်ရာထူးတွင် ရောက်ရှိနေစေကာမူ အရေး မကြီး၊ (ထိုသူတို့သည် ဤစကားဖြင့် အစပျိုးတတ် ကြ သည်။) အရေးကြီးသည်ကား ဗိုလ်ချုပ်ကြီး ဘာကလေ သည် ရိုးသား ဖြောင့်မတ်၍ လက်တွေ့ကျကျ ဆောင်ရွက် တတ်သူတစ်ယောက် ဖြစ်သည်ဆို သည့် အချက်ဖြစ်သည်။ ငါတို့၌ ဗိုလ်ချုပ်ကြီး ဘာကလေထက် တော်သူမရှိ။ စစ် တို့မည်သည် တစ်မိန့်တည်း တစ်သံတည်းသာ ဦးစီး ကွပ်ကဲမှုရှိမှသာ အောင်နိုင် ရာသည်။ ဦးစီးကွပ်ကဲမှုတွင် အမိန့်အသံအမျိုးမျိုး ကွဲချေက မည်သည့်စစ်ကိုမှ တိုက်၍ မနိုင်ရာ။ ထို့ကြောင့် ဗိုလ်ချုပ်ကြီး ဘာကလေကို အရေး ကုန် အာဏာ

အပ်နှင်း၍ တစ်သံတည်း တစ်မိန့်တည်းသော ကွပ်ကဲမှုဖြင့် တိုက်စေက ငါတို့ မုချ အောင်မည်သာဖြစ် သည်။ သို့မှသာ ဗိုလ်ချုပ်ကြီး ဘာကလေသည် မိမိ၏ အစွမ်းအစကိုလည်း ပြနိုင်ချိမ့်မည်။ ဗိုလ်ချုပ်ကြီး ဘာ ကလေသည် ဤနည်းဖြင့် ဖင်လန်ပြည်တွင် အောင်ပွဲခံခဲ့ ပြီ မဟုတ်လော။ ငါတို့ တပ်မတော်ကြီးသည် ယခု အချိန်ထိ တစ်ချက်တည်း တစ်ညီတည်း အုပ်စည်းမပျက် ရှိကြ၍ အင်အား အခိုင် အကျည်ရှိသေးလျက် အထိအခိုက်၊ အရှ အနာ၊ အသေအပျောက်၊ အဆုံးအရှုံး တစ်စုံတစ်ရာမရှိဘဲ ယခု တပ်စွဲထားရာ ဒရစ်ဆာမြစ်ကမ်းသို့ ဆုတ်ခွာနိုင်ခဲ့ သည် ဟူသော စကားမှန်လျှင် ဤသည်မှာ ဘာကလေ  တစ်ဦးတည်း၏ အစီအရင် ကောင်းခြင်းကြောင့်ဖြစ်၍ သူ့ ကိုသာ ကျေးဇူးတင်ရမည် ဖြစ်၏။ သို့မဟုတ်ဘဲ ဘာ ကလေ၏နေရာတွင်ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်ကို အစားထိုး ချေက ငါတို့ အားလုံး အကွဲကွဲဖြစ်ကြ၍ အရေးမလှဖြစ်ကြ ချိမ့်မည်။ ဘင်နစ်ဆန်သည် ၁၈၀၇-ခုနှစ် တိုက်ပွဲကတည်း က အစီအရင် အကွပ်အကဲ ညံ့ဖျင်းကြောင်းကို ပြသခဲ့ပြီ မဟုတ်လော” ဟူသတတ်။

ဆဋ္ဌမအုပ်စုမှာ ဗိုလ်ချုပ်ကြီး ဘင်နှစ်ဆန်၏အုပ်စု ဖြစ်၏။ ၎င်းတို့ကမူ ရုရှား တပ်မတော်၌ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်ထက် အတွေ့အကြုံရှိသူ၊ ထက်မြက်သူမ ရှိဟု ပြောကြလေသည်။ ရုရှားတပ်များ ဒရစ်ဆာသို့ ဆုတ်ခွာ လာခဲ့ခြင်းမှာ ရက် ဖွယ်လိလိ ဖြစ်သော ဆုတ်ခွာရခြင်းမျိုး ဖြစ်၍ အမှားတကာ့အမှားများကို သရဖူဆောင်းလိုက်ခြင်း ဖြစ်သည်။ ထိုအမှားကို ကျူးလွန်သူမှာ ဗိုလ်ချုပ်ကြီး ဘင် နစ်ဆန်ပင် ဖြစ်သည်ဟူသော စွပ်စွဲချက်များကိုမူကား “ယခုအချိန်တွင် သင်းတို့ တစ်တွေ မည်မျှ ဟန်ရေးပြနေ ကြစေကာမူ တစ်နေ့တွင် သင်းတို့အားလုံး ဘင်နှစ် ဆန်၏ ခြေဖဝါးအောက်သို့ ရောက်ကြရမည်သာ ဖြစ်သည်၊ ပျံ လေတဲ့ငှက်ခါး နား သည့်အခါမှ သိစေအံ့”ဟု ချေပကာ ကြုံးဝါးလျက် ရှိကြ၏။ ထို့ပြင် “လောက၌ အမှားကို “

တွေ့မှ အမှန်ရောက်သည် မဟုတ်လော၊ အမှားဆိုသည်မှာ - အစဉ်မှားမြဲ မဟုတ်၊ တစ်နေ့တွင် အမှန်သို့ ရောက်ရမည် . သာ ဖြစ်သည်။ ငါတို့အဖို့ လိုအပ်သူကား ဗိုလ်ချုပ်ကြီး ဘာကလေကိုသော်လည်းကောင်း၊ အခြားသူတစ်ဦးကိုသော် လည်းကောင်း မဟုတ်။ ၁၈၀၇-ခုနှစ် တိုက်ပွဲ၌ လက်ရုံး ရည်ကို ထင်ရှားပြခဲ့၍ ရန်သူကေရာဇ် နပိုလီယန်ကိုယ်တိုင် ကပင် ထုတ်ဖော် ချီးကျူးရသော ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန် ပင် ဖြစ်သည်။ ငါတို့၌ လိုအပ်နေသူကား ဗိုလ်ပုံပရိသတ်က မငြင်းနိုင်လောက်အောင် ထက်မြက်သည့် လက်ရုံးရည် နှလုံးရည်နှင့် ပြည့်ဝသူသာ ဖြစ်သည်။ ထိုသို့ ပြည့်စုံသူမှာ ဗိုလ်ချုပ်ကြီး တင်နှစ်ဆန် တစ်ဦးသာတည်း”ဟု ၎င်းတို့ က ဆိုကြ၏။

သတ္တမအုပ်စု၌မူကား ဘုန်းတော်ကြီးသောအလက် ဇန်းဒရား ဘုရင်ကေရာဇ်ကဲ့သို့ နုနယ်ငယ်ရွယ်သည့် မင်းကေရာဇ်များ၏ အပါးတွင် အမြဲတွေ့ ရတတ်လေ့ ရှိသူများ ပါဝင်ကြ၏။ ၎င်းတို့ကား အလက်ဇန်းဒရား ဘုရင်မင်းမြတ်အား ကေရာဇ်ဘုရင်တစ်ပါး အနေဖြင့် သာမကလူပုဂ္ဂိုလ်တစ်ယောက် အနေဖြင့်လည်း ဆုလာဘ် တစ်စုံတစ်ရာကို မျှော်ကိုးခြင်းကြောင့်မဟုတ်ဘဲ ရိုးသားစွာ ကြည်ညိုလေးစားကြသည့် ဗိုလ်ချုပ်များနှင့် ရွှေနန်းတော် အမှုတော်ထမ်း ကိုယ်ရံတော်ဗိုလ်များ ဖြစ်ကြ၏။ ၎င်းတို့ သည် အလက်ဇန်းဒရား ဘုရင်အား ကြည်ညိုလေးစားရာ၌ ဘုန်းတော်ကြီးလှသော ဘုရားသည် ဘုရင်ကေရာဇ် တစ်ပါး ၏ ဣလက္ခဏာ စသည်တို့ဖြင့် လုံးဝ ပြည့်စုံသည် သာမက လူပုဂ္ဂိုလ်တစ် ယောက်အနေဖြင့်လည်း ပြောစရာ အပြစ်တစ်ကွက်မျှ ရှာမတွေ့လောက်အောင် ခြောက်ပြစ် ကင်းပါပေသည်ဟူသော ယုံကြည်ချက်ဖြင့် လေးစား ကြည်ညိုသူများ ဖြစ်ကြလေသည်။ (၁၈၀၅-ခုနှစ်က နီကိုလေက ဘုရင်ကေရာဇ်အား ကြည်ညို လေးစားပုံမှာ ဤနည်းမျိုး ဖြစ်လေသည်။) ထိုသတ္တမ အုပ်စုဝင်များသည် ဘုန်း တော်ကြီးသော ဘုရားက တပ်မတော်အား ဦးစီး ကွပ်ကဲခြင်း မပြုဟု ငြင်းပယ်

ခြင်းကို နှစ်ခြိုက်ကြသော် လည်း ဘုန်းတော်ကြီးသော ဘုရားသည် ဤမျှလောက် မိမိကိုယ်ကို မိမိနှိမ့်ချခြင်းပြုရာသလောဟု အပြစ်တင်လျက် ရှိကြ၏။ မိမိတို့ ကြည်ညိုလေးမြတ်လှစွာသော ဘုန်းတော် ကြီးသော ဘုရားသည် ဤသို့သော နှောင့်နှေးဗျာပါရ ဖြစ်ခြင်းကို စွန့်လွှတ်လျက် "ငါကိုယ်တော်တိုင် ငါ၏ တပ်မတော်ကို ဦးစီးကွပ်ကဲ၍ တိုက်အံ့"ဟု ရဲရဲတင်းတင်း ကြီး ကြေညာတော်မူစေ ချင်ကြသည်။ စစ်သေနာပတိချုပ် ၏အရာကို ခံယူ၍ ထိုစစ်ဦးစီးဌာနချုပ်ကို ကိုယ်တော်တိုင် ကွပ်ကဲကာ လိုအပ်သည့်အခါတိုင်း အတွေ့ အကြုံရှိသော စစ် သဘောတရား ပါရဂူများ၊ လက်တွေ့သမားများနှင့် ညှိနှိုင်းတိုင်ပင်တော် မူစေချင် ကြသည်။ ထိုမျှမက တပ်မ တော်သားတို့၏ စစ်သွေးစစ်မာန်ကို နှိုးဆွပေးရာ ရောက် မည် ဖြစ်သည့်အတိုင်း ကိုယ်တော်တိုင် ကွပ်ကဲဦးစီတော် မူစေလိုကြပေ သည်။

အဋ္ဌမမြောက်အုပ်စုကား အင်အားအကြီးဆုံး ဖြစ် ၏။ အရေအတွက် အားဖြင့် ကြည့်သော် လူတစ်ရာလျှင် ကိုးဆယ့်ကိုးယောက်သည် ထိုအုပ်စုတွင် ပါဝင်လျက်ရှိကြ ၏။ ထိုအုပ်စုဝင်တို့ကား စစ်ကိုသော်လည်းကောင်း၊ ငြိမ်းချမ်းရေး ကိုသော် လည်းကောင်း၊ ထိုးစစ် တိုက်စစ် ပြုခြင်းကိုသော်လည်းကောင်း၊ ဆုတ်စစ် ခွာစစ်ပြုခြင်းကို  သော်လည်းကောင်း၊ ဘုန်းတော်ကြီးသော ဘုရား၏ဦးစီး ကွပ်ကဲ ခြင်းကိုသော်လည်းကောင်း၊ ဗိုလ်ချုပ်ကြီးဘာကလေ ၏ ဦးစီးကွပ်ကဲခြင်းကို သော်လည်းကောင်း၊ ဗိုလ်ချုပ်ကြီး ဖူးပဲလ်ကိုသော်လည်းကောင်း၊ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန် ကိုသော်လည်းကောင်း မည်သည့်အရာကိုမျှ လိုလားခြင်း စိတ်ဝင်စား ခြင်း မရှိကြချေ။ ၎င်းတို့ အဓိကထား၍ စဉ်းစားသောအရာမှာ ၎င်းတို့၏ ကိုယ်ကျိုး စီးပွားနှင့် ၎င်းတို့၏ စိတ်ပျော်ရွှင်ရေးတို့သာ ဖြစ်လေသည်။ ထိုသူများ ' သည် ထို အရာများမှအပ အခြား ဘာမျှ စိတ်ဝင်စားခြင်း မရှိသော ဘယ်သူသေသေ ငတေ မာပြီးရောဆိုသည့် လူစား များ ဖြစ်ကြ၏။ ကြီးလှစွာသော ကျောက်ဆောင်ကြီး

တစ်ခု ( အနီး၌ ဝဲဂယက်များ ထလျက်ရှိသကဲ့သို့ ဘုန်းတော်ကြီး သော ဘုရင့်အပါးတွင် သူ့အယူအဆမှန်သည်၊ ငါ့အယူ အဆမှန်သည်ဟူသော ငြင်းခုံမှုများ၊ တစ်ယောက်တစ် ယောက် ကုန်းချောမှုများ၊ ခြေပုန်းခုတ်မှုများ၊ ဂယက်ထ လျက်ရှိစဉ်၌ ထိုငတေများသည် အခြားသော အချိန်ကာလ များတွင် စိတ်မကူးရဲသော ရာထူးကြီးများ၊ အခွင့်အရေး များကို အချောင်ရနိုင်သည် မဟုတ်ပါလော။ အချောင် ရထားသော မိမိရာထူးတွင် တည်မြဲလိုသူတစ်ယောက်သည် ယနေ့၌ ဖူးဝဲလ်၏ အယူအဆများကို ထောက်ခံလျက်ရှိ၍ နက်ဖြန်တွင် ဖူးဝဲလ်၏ပြိုင်ဘက်ကို ဩဘာပေးကာ သန်ဘက်ခါတွင်မူကား (တာဝန်ရှောင်သည့်အနေဖြင့်သော်လည်းကောင်း၊ ဘုန်းတော်ကြီးသော ဘုရားကို မျက်နှာ လို အားရပြုံရန်အတွက်သော်လည်းကောင်း) မိမိသည် ဤကိစ္စများနှင့်ပတ်သက်၍ မည်သည့် ထင်မြင်ချက်မျှ အခိုင်အမာမရှိပါဟု မရှက်မကြောက် ထုတ်ဖော်ကြေညာ တတ်ကြ၏။ အခွင့်အရေး ကိုယ်ကျိုးစီးပွားလောက်ကိုသာ မျှော်ကိုးလျက် ရှိသူများကလည်း ယမန်နေ့က ဘုန်းတော် ကြီးသော ဘုရားက အမှတ်မထင် မိန့်ကြားသွားသော စကားတစ်ခွန်းကို သံယောင်လိုက်၍ အော်ကြီးဟစ်ကျယ် ထောက်ခံပြောဆိုပြခြင်းဖြင့် ဘုရင်၏ ဘက်တော်သားမှန်း သိအောင် မဏ္ဍပ်တိုင်တက်ပြတတ်ကြ၏။ ထိုမျှမက ထို သူများသည် ဘုရင့်ရှေ့တော်သို့ ညီလာခံဝင်လျှင်လည်း အကြောင်းမရှိ အကြောင်းရှာကာ အော်ကြီးဟစ်ကျယ် ငြင်းခုံပြခြင်း၊ ရင်ဘတ်စည်တီး ဝမ်းနည်းဟန်ပြခြင်း၊ မိမိနှင့် သဘောကွဲလွဲသူကိုတွေ့လျှင် နှစ်ယောက်ချင်း  သတ်ရန် ချိန်းဆိုပြခြင်းဖြင့် မိမိသည် အများပြည်သူ၏ ကောင်းကျိုးအတွက် မိမိအသက်ကို စွန့်လွှတ်ရန် အဆင် သင့် ရှိပါသည်ဟူသော စိတ်မာန်မျိုးကို ဆောင်တတ်ကြ သေးသည်။ အချို့ကလည်း မည်သူ့ကိုမျှ အတိုက်အခံ မလုပ်ဘဲ အမှုတော်ကို သစ္စာရှိစွာ ထမ်းရွက်ခြင်းအတွက် ဆုတော်လာဘ်တော်များ တောင်းခံရန် ချက်ကောင်းကို တိတ်တဆိတ် စောင့်လျက်ရှိကြ၏။ ဘုရင်မင်း

မြတ်သည် ညီလာခံတစ်ခုနှင့် တစ်ခုအကြားတွင် ဆုတော်လာဘ်တော် အဆောင်အယောင် အစီးအနင်းတို့ကို ချီးမြှင့်လေ့ရှိရာ ထိုသူများသည် ထိုအခါမျိုး ကို စောင့်လျက်ရှိကြ၏။ ထို အချိန်မှာ သူသူငါငါ အလုပ်များလျက် ရှိခြင်းကြောင့် မိမိတောင်းခံသမျှကို ပေးသင့် မပေးသင့် စဉ်းစားနေချိန် မရဘဲ မငြင်းမပယ် အလွယ်တကူ ပေးလိုက်တတ်ခြင်းကို ထိုငတေများ သိပြီးဖြစ်၏။ အချို့ကလည်း အလွန်အမင်း များပြားလှသော တာဝန်များကို ထမ်းဆောင်နေရချိန်၌ မိမိတို့ အလုပ်ကြိုးစားမှန်းသိအောင် ဘုရင်မင်းမြတ် မြင်သာလောက်သော နေရာမှ မကြာခဏ လာရောက် ခစားတတ်ကြ၏။ အချို့မှာလည်း လောကတွင် ဘုရင် မင်းမြတ်နှင့် ညစာအတူစားခွင့်ရရေးဟူသော တစ်သက်တာ ရည်မှန်းချက်ကြီး အောင်လျှင် သေပျော်ပြီဆိုသော လူစား မျိုးများဖြစ်လျက် ထိုရည်မှန်းချက်ကြီး အောင်မြင်ရေး အတွက် အသစ်ပေါ်ပေါက်လာသော ထင်မြင်ချက်များ မှားသည် မှန်သည်ကို တတ်ယောင်ကား ဝေဖန်ပြောဆို တတ်ကြကာ ၎င်းတို့ ဝေဖန်ချက် များ မှန်ကြောင်းကိုလည်း တတ်သမျှ မှတ်သမျှဖြင့် သက်သေသာဓက ထုတ်ပြတတ် ကြ သည့် လူစားများဖြစ်လေသည်။

အမှန်အားဖြင့် ဤငတေ အုပ်စုဝင်များသည် ဒင်္ဂါး ဆုတံဆိပ်တော်၊ ရာထူး အဆောင်အယောင် စသည်တို့ နောက်ကို ငမ်းငမ်းတက် လိုက်နေကြသူများသာ ဖြစ်၏။ ထိုအရာများနောက်သို့ လိုက်ကြရာ၌ ထိုသူများသည် လေတိုက်ရာအရပ် ကိုသိရန် လေကြောင်းပြလေတံခွန်ကို စောင့်ကြည့်သကဲ့သို့ မင်း၏အလို မင်း၏အကြိုက်ကို သိရန် မင်း၏အရိပ်အကဲကို စောင့်ကြည့်လျက်ရှိကြ၏။ လေတံခွန်သည် မည်သည့်အရပ်သို့ မျက်နှာမူလျက်ရှိခြင်း ကိုလည်း ထိုကပ်ပါး များသည် ချက်ချင်းသိနိုင်သော အစွမ်းသတ္တိ ရှိကြ၏။ လေတံခွန် မျက်နှာမူရာ အရပ်ကို  သိလိုက်သည်နှင့် တစ်ပြိုင်နက် ထိုလူ့ကပ်ပါးများသည် မျက်နှာလို

အားရဖြင့် လေတိုက်ရာဘက်သို့ ဝိုင်း၍ ဖူးဖူး မှုတ်တတ်ကြလေရာ ၎င်းတို့လုပ်ပုံကြောင့် မင်းဇေကရာဇ် ပင်လျှင် ရာဇက္ကန္ဓေပျက်ရသည်အထိ ဖြစ်တတ်လေသည်။ ဤသို့ ရှုပ်ထွေးလျက်ရှိချိန် အချင်းချင်း မကောင်းကြံခြင်း၊ သက္ကာယ ထောင်လွှားခြင်း၊ အယူအဆများကွဲပြားခြင်း၊ တပ်တော်အမှုထမ်းထဲ၌ မျိုးဇာတ်မတူ ကွဲပြားခြားနားခြင်း စသည်တို့ကြောင့် ရုတ်ရုတ်သဲသဲ ဖြစ်လျက်ရှိချိန်၌ ကိုယ်ကျိုးစီးပွားလောက်ကိုသာ ကြည့်သော ငတေများ၏အုပ်စု ဟူ၍ ထုကြီးထည်ကြီးဖြင့် ပေါ်ပေါက်လာပြန်သည့်အခါ၌ ကား အများနှင့်သက်ဆိုင်သော အရေးကိစ္စ လုပ်ငန်းဆောင် တာ ဟူသမျှတို့သည် မှေးမှိန်ပျောက်ကွယ်သွားကြကာ သပ္ပတ်အူလိုက်သည့်နှယ် အားလုံး ရှုပ်ထွေးကုန်တော့သည်။ ပြဿနာတစ်ရပ် ပေါ်လာသည်နှင့်တစ်ပြိုင်နက် ဤလူ့ ကပ်ပါးတစ်အုပ်သည် ယခင်ပြဿနာ ဟောင်းနှင့် စပ်လျဉ်း ၍ ဆူညံစွာ ငြင်းခုံပြောဆိုခြင်းကို ရပ်၍ နောက်ပြဿနာ သစ်ဆီသို့ ကူးလာကာ ဆူညံစွာ ဝေဖန်ခြင်းပြုကြပြန် သည်။ ဤသို့ဖြင့် လူ့ကပ်ပါးတို့၏အသံသည် ပြဿနာ ကို ရိုးသားစွာ ဆွေးနွေးဝေဖန်လျက် ရှိသူများ၏အသံကို ဖုံးလွှမ်းပစ်လိုက်တတ်ကြသည်သာ ဖြစ်လေသည်။

မင်းသားကလေး အင်ဒရေ တပ်မတော်ထဲသို့ ရောက်လာချိန်၌ ဤအုပ်စုများအပြင် နဝမမြောက်ဖြစ်သော အုပ်စုတစ်စုသည်လည်း ပေါ်ပေါက်လျက်ရှိကာ ၎င်း၏ ထင်မြင်ချက်ကို ထုတ်ဖော်ပြောဆိုစပြုလျက် ရှိလေသည်။

ထိုအုပ်စုကား နိုင်ငံတော်အုပ်ချုပ်ရေး ကိစ္စများတွင် အတွေ့ အကြုံနှင့် လုပ်ရည်ကိုင်ရည်ရှိလျက် အစစအရာရာ ရှေ့ နောက် မြော်မြင် ဆင်ခြင်စဉ်းစားတတ်သော လူကြီးပိုင်း အုပ်စု ဖြစ်လေသည်။ ထိုလူကြီးပိုင်းအုပ်စုကား အတိုက်အခံဖြစ်လျက် ရှိကြသော အုပ်စုများအနက် မည်သည့်အုပ်စု တွင်မှ ပါဝင်ခြင်းမရှိဘဲ စစ်ဦးစီးဌာနချုပ်၌ ဖြစ်ပျက်နေ သော အရေးကိစ္စများကို ဓမ္မဓိဋ္ဌာန်ကျကျ

ကြည့်မြင်နိုင်၍ အယူအဆ အတွေးအခေါ် အမျိုးမျိုးတို့ ရောထွေးလျက် ရှိခြင်း၊ ပြတ်ပြတ်သားသား မဆုံးဖြတ်နိုင်ခြင်း၊ မည်သည့် အစကို ကောက်ကိုင်ရမည် မသိလောက်အောင် ရှုပ်ပွေ လျက် ရှိခြင်း၊ အချင်းချင်း စိတ်ဝမ်းကွဲပြားလျက်ရှိခြင်း စသည့် အခြေအနေတို့မှ လွတ်ရာလွတ်ကြောင်း နည်းလမ်း  များကို စဉ်းစား တွေးခေါ်နိုင်သော အုပ်စုဖြစ်ပေသည်။

ထိုအုပ်စု၏အမြင်၌ ဘုန်းတော်ကြီးသော ဘုရား ကိုယ်တိုင် စစ်မှူးစစ်ကဲများခြံရံလျက် တပ်မတော်နှင့်အတူ လိုက်ပါလာခြင်း၊ နပိုလီယန်နှင့် ဆက်ဆံရာ၌ တစ်ဖြောင့် တည်း တသမတ်တည်း မရှိခြင်း၊ ပြတ်ပြတ် သားသား မရှိခြင်း၊ အခြေအနေကိုလိုက်၍ အလျှော့အတင်း လုပ်ခြင်း များသည် အခြေအနေကို ရှုပ်ထွေးစေသော အဓိက အကြောင်းများဖြစ်သည်ဟု ယူဆကြလျက် ထိုအတိုင်းလည်း ထုတ်ဖော် ပြောဆိုကြလေသည်။

ဤသို့ လျှော့ချည် တင်းချည်ပြုသော ဆက်ဆံရေး မျိုးသည် ရွှေနန်းတော်ကြီး၏ သံတမန် ဆက်ဆံရေးကိစ္စ များ၌ လျော်ကန်သင့်မြတ်သည် မှန်သော်လည်း တပ် မတော်တွင်း၌ အန္တ ရာယ်ဖြစ်စေသည်ဟု ၎င်းတို့က ယူဆကြ၏။ ထိုမှူမက မင်းကေရာဇ်တို့မည်သည် တပ်မတော် ကို ဦးစီးကွပ်ကဲခြင်း မပြုရဘဲ နိုင်ငံကို ငြိမ်ဝပ်ပိပြားအောင် သာ အုပ်ချုပ်ရာသည်ဟု လည်းကောင်း၊ လက်ရှိ အခြေ အနေမှ ထွက်မြောက်ရန် တစ်ခုတည်းသော နည်းလမ်းကား ဘုရင်မင်းမြတ်နှင့်တကွ ၎င်း၏ အခြွေအရံများအားလုံး ရွှေနန်းတော်ကြီးသို့ ပြန်ကြွသွားကာ တပ်မတော်ကိစ္စများ တွင် ဝင်ရောက်စွက်ဖက်ခြင်း မပြုရန် ဖြစ်သည်ဟုလည်းကောင်း ပြောဆိုလျက် ရှိကြသည်။ ယခုကဲ့သို့ ဘုရင်မင်း မြတ် ကိုယ်တော်တိုင် တပ်မတော်နှင့် လိုက်ပါလာခြင်း ကြောင့် အကျိုးမထူးရုံမျှမက ဘုရင်မင်းမြတ်၏ လုံခြုံရေး အတွက် စစ်သည်ရဲမက်ငါးသောင်းကို အသုံးပြုထားရ သဖြင့် စစ်သည်အင်အားများ အချည်းနှီးဖြစ်လျက်ရှိသည်ဟု လည်းကောင်း၊ ဘုရင်မင်းမြတ်၏

အရှိန်အဝါ အာဏာစက် အောက်တွင် မရွံ့မရဲ လုပ်ကိုင်နေရသည့် အကောင်းဆုံး သော စစ်ဦးစီးချုပ်အောက်၌ အမှုထမ်းရခြင်းထက် အချုပ် အချယ်မရှိ မိမိမှန်သည် ထင်သောအရာကို လွတ်လပ်စွာ လုပ်ကိုင်နိုင်သော အညံ့ဆုံး စစ်ဦးစီးချုပ် လက်အောက်တွင် အမှုထမ်းရခြင်းကမှ ကောင်းလိမ့်မည်ဟုလည်းကောင်း ပြောဆိုလျက် ရှိကြလေသည်။

ဒရစ်ဆာတပ်စခန်း၌ မင်းသားကလေး အင်ဒရေ အဖို့ တာဝန်မရှိသေးဘဲ နေထိုင်လျက်ရှိသည့် အတော အတွင်း၌ ထိုလူကြီးပိုင်းအုပ်စု၏ ခေါင်းဆောင်တစ် ဦး ဖြစ်သူ ပြည်ထဲရေး အတွင်းဝန် ရှိရှကော့သည် ဤကိစ္စ  များနှင့်ပတ်သက်၍ ဘုန်းတော်ကြီးသော ဘုရားထံသို့ တင်လျှာတစ်စောင် တင်လိုက်၏။ ထိုတင်လျှာ ကို စစ် ဝန်ကြီးဟောင်း အာရတ်ချေနှင့် တပ်ရေးချုပ် ဗလရှေတို့ ကလည်း ထောက်ခံလက်မှတ်ရေးထိုးကြသည်။ ပြည်ထဲရေး အတွင်းဝန် ရှိရှကော့သည် အခြေအနေအရပ်ရပ်နှင့် ပတ် သက်၍ မိမိ၏ ထင်မြင်ချက်ကို တင်လျှောက်ရန် ဘုန်း တော်ကြီးသော ဘုရားက ခွင့်ပြုတော်မူထားသည့်အတိုင်း ယခုအချိန်၌ ဘုန်း တော်ကြီးသော ဘုရားကိုယ်တော်တိုင် ပီတာစဘတ် ရွှေမြို့တော်သူ ရွှေမြို့တော် သားများအား စစ်စိတ်စစ်သွေး၊ ဇာတိမာန် ဇာတိသွေး ထက်သန်လာ စေရန် လှုံ့ဆော်ပေးဖို့ လိုအပ်သည့်အတွက် ဘုန်းတော်ကြီး သော ဘုရားသည် တပ်မတော်နှင့်အတူ ချီတက်လိုက် ပါခြင်း မပြုဘဲ နေပြည်တော်သို့ ပြန်ကြွသင့် ကြောင်းဖြင့် ဤတင်လျှာထဲတွင် ရိုသေစွာ ဖော်ပြလျှောက်ထားလိုက် လေသည်။

ဤသို့ဖြင့် တိုင်းသူပြည်သားများအား ဇာတိမာန် ထက်သန်လာစေရန် ဘုရင်ကေရာဇ်ကိုယ်တိုင် လှုံ့ဆော် တော်မူခြင်း၊ မိမိနိုင်ငံတော်ကြီးကို သက်စွန့်ကြိုးပမ်း ကာကွယ်ကြရန် ဘုရင်ကေရာဇ်ကိုယ်တိုင် ဆင့်ဆိုတော် မူခြင်း (ဤသို့ ဘုရင်ကေရာဇ်ကိုယ်တိုင် ကြွရောက် နှိုးဆော်တော်မူရာတွင် မော်စကို

မြို့၌ အထူးအောင်မြင်ခဲ့ သည်။) စသည်တို့ကို ဆောင်ရွက်တော်မူသင့်ကြောင်းကို လျှောက်ထား သံတော်ဦးတင်သည့်အခါတွင် ဘုန်းတော် ကြီးသော ဘုရား ကိုယ်တော်တိုင်ကလည်း တပ်မတော်မှ ဣနြေမပျက်ထွက်ခွာသွားရန် အကြောင်းပြချက်ရပြီးဖြစ် သည့်အလျောက် လက်ခံလိုက်လေသတည်း။

# အခန်း ၁၀

ပြည်ထဲရေးအတွင်းဝန် ရှိရှကော့၏တင်လွှာကို ဘုန်းတော် ကြီးသော ဘုရား ထံ တင်ဆက်ခြင်းမပြုမီ တစ်နေ့သ၌ တူရကီနိုင်ငံအခြေအနေများကို မေးမြန်း စုံစမ်းရန်အတွက် ဘုန်းတော်ကြီးသော ဘုရားက တွေ့ လိုတော်မူသည်ဟု ညစာ စားပွဲတွင် ဗိုလ်ချုပ်ကြီး ဘာကလေက မင်းသား ကလေး အင်ဒရေအား ပြောပြ လေသည်။ မင်းသားကလေး ( အင်ဒရေသည် ဘုန်းတော်ကြီးသော ဘုရား၏ ယာယီစံ နန်းတော်ဖြစ်သော ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်၏အိမ်တော် သို့ ထိုနေ့ ညနေ ခြောက်ချက်တီး၌ ဝင်ရောက်ခစားရမည်ဟု အမိန့်တော်ရှိလိုက်ကြောင်းဖြင့် လည်း ဗိုလ်ချုပ်ကြီး ဘာ ကလေက ပြောပြ၏။

နပိုလီယန်သည် ၎င်း၏တပ်များဖြင့် ချီတက်လာ ပြီဖြစ်ကြောင်း၊ ဒရစ်ဆာ တပ်စခန်းကိုလည်း အန္တရာယ် ပေးကောင်းပေးမည်ဖြစ်ကြောင်း စသဖြင့် ထိုနေ့က ဘုန်း တော်ကြီးသော ဘုရား၏ ယာယီစံနန်းရုံးတော်တွင် သတင်း ဖြစ်ပွားလျက် ရှိ လေသည်။ သို့ရာတွင် ထိုသတင်း များမှာ အခြေအမြစ်မရှိသော သတင်းများသာ ဖြစ်သည်ကို မကြာမီ သိရှိရလေသည်။ ထိုနေ့နံနက်၌ ဗိုလ်မှူးကြီး မစ် ရှာသည် ဘုန်းတော်ကြီးလှသော ဘုရားအား ဒရစ်ဆာ တပ်စခန်းကို လိုက်လံပြသခဲ့ကာ ဗိုလ်ချုပ်ကြီး ဖူးဝဲလ်၏ စီမံကိန်းအရ အခိုင်အမာ ဆောက်လုပ်ထားသော ဤစခန်း သည် တပ်စခန်းဟုပင် မခေါ်နိုင်လောက်အောင် အစီအရင် ညံ့ဖျင်းလှကြောင်း၊ ဤ

စခန်းမှသာ နပိုလီယန်ကို ခံချေ က ရုရှားတပ်မတော်ကြီးတစ်ခုလုံး ပြုတ်ပြုတ်ပြုန်းသွား ရန်သာ ရှိတော့ကြောင်းဖြင့် လျှောက်တင်လေသည်။ (ထို အချိန်က ဖူးဝဲလ်မှာ စစ်ပရိယာယ်ဆိုင်ရာ သိပ္ပံပညာရှိ တေဒဂ်ရသူဖြစ်၍ နပိုလီ ယန်ကို ပြုတ်ပြုတ်ပြုန်းအောင် အလဲထိုးနိုင်မည့်သူဟု ကျော်ကြားလျက် ရှိသည်။) ညနေ၌ မင်းသားကလေး အင်ဒရေသည် ဘုန်း တော်ကြီးသော ဘုရားစံမြန်းရာ ဗိုလ်ချုပ်ကြီး ဘင်နစ် ဆန်၏ စံအိမ်သို့ ရောက်လာခဲ့၏။ စံအိမ်မှာ ဒရစ်ဆာမြစ် ကမ်းနဖူးတွင် တည်ရှိလျက် တောမြေပိုင်ရှင်၏ အိမ်မျိုး ဖြစ်၍ အရွယ်မှာ အလတ်စားထဲက ဖြစ်သည်။ မင်းသား ကလေး အင်ဒရေ ရောက်သွားသောအခါ၌ ဘုရင်မင်းမြတ် ကိုသော်လည်းကောင်း၊ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်ကိုသော် လည်းကောင်း မတွေ့ရချေ။ သို့ရာတွင် ဘုန်းတော်ကြီး သော ဘုရား၏ကိုယ်ရံတော်တပ်မှူး ချာနီရှေ့က မင်းသား ကလေးအင်ဒရေအား ကောင်းစွာ ဆီးကြိုညေ့်ခံကာ ဘုန်းတော်ကြီးသော ဘုရားသည် ဗိုလ်ချုပ်ကြီး ဘင် နစ်ဆန်၊ မြို့စားကြီး ပေါ်လတ်ဆွေနှင့်အတူ ဒရစ်ဆာတပ်စခန်းရှိ မြေလက်ရုံး၊ ကျုံး၊ မြောင်း၊ ကတုတ်၊ ရင်တား၊ တပ်တာ စသည့် အစီအရင်တို့ကို ဒုတိယအကြိမ် လှည့်လည်ကြည့်ရှု စစ်ဆေးရန် ထွက်ခွာသွားတော်မူကြောင်း၊ ဘုန်းတော်ကြီး သောဘုရားသည် တပ်တော် အစီအရင်တို့ ခိုင်ခံ့ခြင်း ရှိ မရှိကို များစွာစိုးရိမ်တော် မူလျက် ရှိကြောင်းဖြင့် ပြောပြ၏။

ကိုယ်ရံတော်တပ်မှူး ချာနီရှေ့သည် စံအိမ် အဝင်ဝ နားမှ ခန်းဆောင်တစ်ခု ထဲရှိ ပြတင်းဝတွင် ထိုင်၍ ပြင် သစ်ဝတ္ထုတစ်ပုဒ်ကို ဖတ်လျက်ရှိသည်။ ထိုခန်း ဆောင်မှာ တူရိယာများ တီးမှုတ်လေ့ရှိသော ခန်းဆောင်တစ်ခု ဖြစ် ဟန်ရှိ၍ လေသွင်းစန္ဒရားတစ်လုံးကို ယခုတိုင် တွေ့ရလျက် ထိုစန္ဒရားပေါ်တွင် စောင်များ စုပုံတင်ထားသည်ကိုလည်း မြင်ရလေသည်။ အခန်းထောင့် တစ်နေရာတွင်မူ ဗိုလ်ချုပ် ကြီး ဘင်နစ်ဆန်၏ တပ်ရေးဗိုလ် အိပ်သော ခေါက်ခုတင် တစ်လုံးရှိ၏။

တပ်ရေးဗိုလ်သည် ခေါက်ထားသော အိပ်ရာ ( လိပ်ပေါ်တွင် ထိုင်ရင်း အိပ်ငိုက် လျက်ရှိလေသည်။ အလုပ် များသောကြောင့် ပင်ပန်းလျက်ရှိခြင်းလော၊ အပျော်ကြူး သောကြောင့် နွမ်းနယ်လျက်ရှိခြင်းလော တစ်ခုခုကြောင့်ပင် ဖြစ်တန် ရာ၏။ ထိုခန်းဆောင်တွင် အပြင်သို့ထွက်သော တံခါးနှစ်ပေါက်ရှိရာ တစ်ပေါက်မှာ ဧည့်ခန်းဆောင်သို့ တည့်တည့်ထွက်သည့် အပေါက်ဖြစ်လျက် လက်ယာဘက် အပေါက်မှာ စာကြည့်ဆောင်သို့ ကူးသော အပေါက်ဖြစ် ၏။ ထိုခန်းဆောင်ထဲမှ ဂျာမန်ဘာသာ၊ တစ်ခါတစ်ရံ ပြင်သစ်ဘာသာဖြင့် စကားပြောနေသံများကို ကြား ရ၏။ ထိုခန်းဆောင်ထဲ၌ကား ဘုန်းတော်ကြီးသော ဘုရား၏ ဆန္ဒအရ ဆင့်ခေါ် ထားသော မှူးကြီးမတ်ကြီးများ၊ ဗိုလ်ချုပ်၊ တပ်မှူး၊ စစ်ဦးစစ်ကဲများ အစုံအညီ ရောက်ရှိနေကြလေပြီ။

ဘုန်းတော်ကြီးသော ဘုရားသည် ဖြစ်ပေါ်လာသော အခြေ အနေ အကျပ်အတည်းများနှင့် စပ်လျဥ်း၍ ၎င်းတို့၏ ထင်မြင်ချက်များကို ကြားနာရန် ဆင့်ခေါ်ထားခြင်း ဖြစ် လေသည်။ သို့ရာတွင် စစ်ဦးစီးဌာနချုပ်၏ အရေးပေါ် အစည်းအဝေး မဟုတ်ချေ။ ဘုန်းတော်ကြီးသော ဘုရား ( ကိုယ်တော်တိုင် ရှင်းလင်းခြင်းမရှိသည့် ပြဿနာများကို ဆွေးနွေးကြားနာရန် ခေါ်ယူထားသော သာမန်အစည်း အဝေးမျိုးသာ ဖြစ်လေသည်။ (ဘုန်းတော်ကြီးသောဘုရား သည် ဤသို့ မသေမချာလုပ်လေ့ရှိတော်မူသည်။) ဤသို့ ဆွေးနွေးပွဲလည်းမကျ၊ ညီလာခံ လည်း မမည်သော အစည်း အဝေးသို့ ဆွီဒင် ဗိုလ်ချုပ်ကြီး အမ်းဖဲ၊ တပ်ရေးချုပ် ဝေါဇိုဂျင်၊ ဝန်ဇင်ဂျီရိုဒီ (ပြင်သစ်လက်အောက်ခံ သစ္စာ ဖောက်တစ်ဦးဟု နပိုလီ ယန်က သမုတ်ခြင်း ခံရသူ။) ဗိုလ်မှူးကြီး မစ်ရှော့၊ မြို့စားကြီးတိုးလ်၊ စစ်မှုတော် ထမ်း တစ်ဦး လုံးဝ မဟုတ်သော မြို့စားကြီး စတိန်းနှင့်တကွ ဒရစ်ဆာတွင် တပ် ခိုင်တပ်လုံ တည်၍ခုခံရန် အစီအမံကို ကွပ်ကဲကြိုးကိုင်လျက်ရှိသည်ဆိုသူ ဗိုလ်ချုပ်ကြီး ဖူးဝဲလ် တို့ တက်ရောက်ကြ၏။ မင်းသားကလေး အင်ဒရေရောက်

ပြီး မကြာမီ၌ ဖူးဝဲလ်ရောက်လာကာ ခန်းဆောင်ထဲသို့ မဝင်မီ ကိုယ်ရံတော်တပ်မှူး ချာနီရှေ့၌ ခေတ္တစကားပြောဆို နေသဖြင့် မင်းသားကလေး အင်ဒရေသည် ဗိုလ်ချုပ်ကြီး ဖူးဝဲလ်ကို အကဲခတ်ခွင့် ရလိုက်လေသည်။

ဖူးဝဲလ်သည် ပုံပန်းမကျသော ရုရှားဗိုလ်ချုပ်ဝတ်စုံ ကို ဝတ်ထား၏။ ရုရှားဗိုလ်ချုပ် ဝတ်စုံသည် ၎င်း၏ကိုယ် ပေါ်၌ ဗိုလ်ချုပ်ဝတ်စုံနှင့်မတူဘဲ လူပြက်အဝတ်အစားနှင့် တူလျက်ရှိ၏။ မင်းသားကလေး အင်ဒရေသည် ဖူးဝဲလ် ကို ပထမဆုံးအကြိမ် မြင်ဖူးခြင်းဖြစ်သော်လည်း မြင်ဖူး သည်ဟု စိတ်ထဲတွင် အောက်မေ့မိသည်။ မင်းသားကလေး အင်ဒရေသည် ၁၈၀၅-ခု စစ်ပွဲ၌ ဝေရိုသာ၊ မက်၊ ရှမစ် စသော ဂျာမန်စစ်ပါရဂူ ဗိုလ်ချုပ်များကို မြင်ဖူးခဲ့ရာ ဖူးဝဲလ်မှာ ထိုဂျာမန်စစ်ပါရဂူ ဗိုလ်ချုပ်များနှင့် နေရာခပ်များ များတွင် တူညီလျက်ရှိခြင်းကို တွေ့ရ၏။ သို့ရာတွင် ဖူးဝဲလ်ကား ၎င်းတို့အားလုံးထက် စစ်ပါရဂူဂိုက် ပေါက် လျက် ရှိလေသည်။ စစ်ပါရဂူများ၌ တစ်ယောက်တစ်မျိုး စီ ထူးခြားသော ကြွန်အင်လက္ခဏာများ ရှိကြရာ ထိုစစ် ပါရဂူများအားလုံး၏ ကြွန်အင်လက္ခဏာများကို တမင်စုပေါင်း ထားသည်ဟု ထင်ရလောက်အောင် လက္ခဏာ ရှိသည့် ဖူးဝဲလ်ကဲ့သို့သော ဂျာမန်စစ်ပါရဂူမျိုးကိုကား မင်းသားကလေး အင်ဒရေ မမြင်ဖူးခဲ့သေးချေ။

ဖူးဝဲလ်မှာ အရပ်ခပ်ပြတ်ပြတ်၊ ကိုယ်လုံးကိုယ်ထည် ခပ်ပါးပါးဖြစ်၏။ သို့ရာတွင် အရိုးအဆက်ကြီးသူ ဖြစ်သည့် အလျောက် တောင့်တင်းသောပခုံး၊ တုတ်ခိုင်သော ခါးတို့ ဖြင့် ကျန်းမာဖျတ်လတ်သော အသွင်ကိုဆောင်လျက် ရှိ လေသည်။ ဖူးဝဲလ်၏မျက်နှာမှာ အရေတွန့်နေပြီဖြစ်လျက် မျက်လုံးများသည် အတွင်းသို့ ချိုင့်ဝင်လျက်ရှိကြ၏။ ဖူးဝဲလ်သည် နားထင်နှစ်ဖက်ပေါ်က ဆံပင်ကို ကပျာကသီ ဖြီးလာခဲ့ဟန် ရှိသော်လည်း ခေါင်းနောက်ပိုင်းမှာမူ ကြက်လည်ဆံမွေးကဲ့သို့ ထောင်လျက်ရှိလေသည်။ ဖူးဝဲလ်သည် ကြီးမားကျယ်ပြန့်လှသော ခန်းဆောင်ကြီးထဲရှိ မြင်မြင်  သမျှကို သက်ာမကင်း ဖြစ်လျက်ရှိသည့်ပမာ

ကျီးကန်း တောင်းမှောက် မျက်လုံးများဖြင့် လှမ်းကြည့်ရင်း အခန်း ထဲသို့ ဒေါသတကြီး ဝင်ရောက်လာလေသည်။ ထို့နောက် ခေါးလွယ်ကြိုးကို ပုံပန်းမကျ ကိုင်ထားရာမှ ဘုန်းတော်ကြီး သောဘုရား အတွင်းတော်၌ ရှိမရှိ ကိုယ်ရံတော်တပ်မှူး ချာနီရှေ့ကို မေးမြန်းစုံစမ်းခြင်း ပြု၏။ ဖူးဝဲလ်၏ဟန်မှာ ဦးညွတ်နှုတ်ဆက်ခြင်း၊ ပဋိသန္ဓာရ စကားဆိုခြင်း စသည့် လောကဝတ်များကို လျင်မြန်နိုင်သမျှ လျင်မြန်စွာ ပြီးစီး အောင် ဆောင်ရွက်ပြီးနောက် ခန်းဆောင်များထဲမှ ခပ်သုတ် သုတ်ဖြတ်ကာ မိမိအတွက် သက်သောင့်သက်သာအဖြစ်ဆုံး နေရာဖြစ်သော မြေပုံကြီးတစ်ချပ် ဖြန့်ခင်းထားသည့် ( စားပွဲတွင် ထိုင်လျက် ပြုဖွယ်ကိစ္စများကို အမြန်ဆုံး ထိုင်၍ လုပ်လိုသောလူစားမျိုး ဖြစ်ဟန်ရှိ၏။ ဖူးဝဲလ်သည် ကိုယ်ရံ တော်တပ်မှူး ချာနီရှေ့ကို ခပ်သုတ်သုတ် ခေါင်းညိတ်၍ နှုတ်ဆက်လိုက်၏။ ဘုန်းတော်ကြီးသော ဘုရားသည် မိမိကဲ့သို့သော စစ်ပါရဂူတစ်ဦးက စစ်သေနင်္ဗျူဟာသဘောတရားများနှင့်အညီ အခိုင်အမာ စီရင်ထားသော ဒရစ်ဆာခံတပ်ကို လှည့်လည်ကြည့်ရှု စစ်ဆေးလျက်ရှိ သည်ဟု ကြားရသည့်အခါ၌ ဖူးဝဲလ်သည် ခပ်လျောင်မှောင် ပြုံးပြလိုက်၏။ မိမိကိုယ်ကိုမိမိ လွန်မင်းစွာ အထင်ကြီးလေ့ ရှိသော ဂျာမန်များ ထုံးစံအတိုင်း အသံသြသြကြီးဖြင့်လည်း တစ်စုံတစ်ရာကို ရေရွတ်လျက်ရှိလေသည်။ (“တယ်လဲ မိုက်လုံးကြီးလှပါကလား ဟရို့"ဟု သော်လည်းကောင်း၊ “ရှင်ဘုရင်လျှောက်ကြည့်တာနဲ့ အစီအစဉ်တွေတော့ ပျက်ရချည်ရဲ့”ဟုလည်းကောင်း၊ “သင်းတို့လုပ်ပုံ ဟန်မကျ တာနဲ့ အကုန်အကျိုးနည်းရချည့်” ဟုလည်းကောင်း ပြော ခြင်း ဖြစ်တန်ရာသည်။) မင်းသားကလေး အင်ဒရေသည် ဖူးဝဲလ်၏စကားများကို သဲကွဲစွာ မကြားလိုက်ရချေ။ မင်းသားကလေး အင်ဒရေက လှည့်ထွက်လာမည်အပြု၌ ကိုယ်ရံတော်တပ်မှူး ချာနီရှေ့က မင်းသားကလေး အင် ဒရေကို ဖူးဝဲလ်နှင့် မိတ်ဆက်ပေးသည်။ မင်းသားကလေး အင်ဒရေသည် မိမိတို့တပ်တော်များ အောင်ပွဲခံခဲ့သည့် တူရကီစစ်မြေပြင်မှ မကြာသေးမီကရောက်ရှိလာသူ ဖြစ်ကြောင်းဖြင့်လည်း ကိုယ်ရံတော်တပ်မှူး ချာနီရှေ့က ပြော

ပြ၏။ ဖူးဝဲလ်သည် မင်းသားကလေး အင်ဒရေကို ကြည့်သည်ဆိုရုံမျှသာ ကြည့်လိုက်ပြီးနောက် တစ်ချက်မျှ ရယ်လိုက်ကာ "သော် ဟုတ်လား၊ တူရကီစစ်ပွဲကတော့ စံနမူနာထားထိုက်တဲ့ ပရိယာယ်မြောက် အသေးစားစစ်ပွဲ ကလေးမျိုးပေပဲဗျ"ဟု ခပ်မှောင်မှောင်ကလေး ပြောကာ အထင်သေးသည့် မျက်နှာထားဖြင့် ဧည့်ခန်းဆောင်ထဲသို့ ဝင်ရောက်ပျောက်ကွယ်သွားလေသည်။

ဖူးဝဲလ်သည် တစ်ဖက်သားကို ခနိုးခနဲ့ ချိုးနှိမ် ပြောဆိုခြင်း မပြုရလျှင် အိပ်မပျော် စားမဝင်သည့် လူ စားမျိုးဖြစ်၏။ ထိုနေ့၌ ဖူးဝဲလ်သည် မိမိကဲ့သို့သော စစ်ပါရဂူကြီးကိုယ်တိုင် ကြပ်မတ်တည်ဆောက်ထားသော ခံတပ်ကို လှည့်လည် စစ်ဆေးရပါဦးမည်လော၊ ခံတပ် တည်ပုံနှင့် စပ်လျဉ်း၍ မိမိမျက်ကွယ်တွင် ဝေဖန်ပြောဆို ခြင်း ပြုရပါမည်လောဟု အကြီးအကျယ် စိတ်ဆိုးလျက် ရှိလေသည်။ မင်းသားကလေး အင်ဒရေသည် ဩစတား လစ်တိုက်ပွဲ၌ ဂျာမန်စစ်ဗိုလ်ချုပ်များနှင့် ကောင်းစွာ ဆက်ဆံခဲ့ဖူးပြီ ဖြစ်သည့်အလျောက် ဖူးဝဲလ်အား ခေတ္တ ခဏမျှသာ မြင်တွေ့လိုက်ရစေကာမူ ၎င်း၏စိတ်သဘော ထားကို ကောင်းကောင်းကြီး အကဲခတ်နိုင်လိုက်လေပြီ။ ဂျာမန်လူမျိုးသည် ပရမတ္ထသစ္စာတရားဟု ဆိုသော သိပ္ပံ ပညာကို သိမြင်နှံ့စပ်ခြင်းအရာ၌ ကမ္ဘာပေါ်တွင် ၎င်းတို့ လူမျိုးတစ်မျိုးတည်းသာ ရှိသည်ဟု သွေးနားထင်ရောက် လျက်ရှိသည့်အလျောက် မာနနှင့်ပတ်သက်လာလျှင် အသက်ကိုသာ စွန့်ချင်စွန့်မည်၊ မာနကိုကား မစွန့်ဟု မိုက်မိုက်ကန်းကန်း ဘဝင်မြင့်တတ်ကြရာ ဖူးဝဲလ်မှာလည်း ဂျာမန်တို့၏ထုံးစံအတိုင်း စိတ်ပျက်ဖွယ်ကောင်းလောက် အောင် ကိုယ့်ကိုယ်ကို အထင်ကြီးသူတစ်ယောက် ဖြစ်လေသည်။ ကမ္ဘာပေါ်ရှိ လူမျိုးအသီးသီးတွင် မာနအသီးသီး ရှိကြရာ၌ ပြင်သစ်လူမျိုးတို့ မာနကြီးခြင်းမှာ ၎င်းတို့လူမျိုး သည် စိတ်နေသဘောထားအားဖြင့် လည်းကောင်း၊ ရုပ် လက္ခဏာအားဖြင့် လည်းကောင်း၊ မြင်ရသူ ယောကျာ်း မိန်းမတို့ တိမ်းညွတ်ယိုဖိတ်စေနိုင်လောက်သော လှပပြေပြစ် ခြင်းမျိုးရှိသည်ဟူသော အချက်၌

မာနကြီးကြခြင်းဖြစ်၍ အင်္ဂလိပ်လူမျိုးတို့၏ မာနမှာ မိမိတို့သည် ကမ္ဘာပေါ်တွင် စနစ်အကျဆုံး ဖွဲ့စည်းထားသည့်နိုင်ငံမှ နိုင်ငံသားများ ဖြစ်သည့်အလျောက် မိမိနှင့် ထိုက်တန်သောအလုပ်ကို ကောင်းစွာ ရွေးချယ်တတ်၍ အင်္ဂ ပြုလုပ်သော အလုပ်တိုင်းသည်လည်း မှန်သည်ဟူသော အချက်၌ မာနကြီးကြခြင်း ဖြစ်၏။ အီတလီလူမျိုးတို့ မာနကြီးခြင်းမှာကား ၎င်းတို့လူမျိုးသည် စိတ်လှုပ်ရှား ထိခိုက်လွယ်သလောက် မေ့မေ့ပျောက်ပျောက် ဖြစ်လွယ် သည့်အတွက် မာနကြီးခြင်း ဖြစ်၏။ ရုရှားလူမျိုးတို့၏ မာနကြီးခြင်းမှာ ၎င်းတို့လူမျိုးသည် လောကတွင် လူတို့ သိနိုင်သောအရာဟူ၍ ဘာမျှမရှိဟု ယုံကြည်သည့် အလျောက် မည်သည့်အရာကို မျှလည်း မသိ၊ မည်သည့် အရာကိုမျှလည်း သိလိုစိတ်မရှိဘဲ “ဆန်မရှိ အစားကြီး” ဆိုသကဲ့သို့ အခြောက်တိုက် မာနကြီးခြင်းမျိုး ဖြစ်လေ သည်။ ဤသို့ဖြင့် လူမျိုးတိုင်း၌ မာနအသီးသီး ရှိကြသည့် အနက် ဂျာမန်လူမျိုး၏ မာနကား အဆိုးရွားဆုံး အပြင်း ထန်ဆုံး စက်ဆုပ်ဖွယ်အကောင်းဆုံး ဖြစ်လေသည်။ ၎င်း တို့၏ မာနကား အခြားမဟုတ်။ အလုံးစုံ မှန်ကန်သော သစ္စာတရားတည်းဟူသော သိပ္ပံပညာကို စတင်တီထွင်ခဲ့ ရုံမျှမက ထိုအကြောင်းကို ကောင်းစွာ နားလည်သိမြင်သူ မှာ ကမ္ဘာပေါ်တွင် ၎င်းတို့ ဂျာမန်လူမျိုးတစ်မျိုးတည်းသာ ရှိသည်ဟူသော မာနဖြစ်ပေသတည်း။

ဖူးဝဲလ်ကား ဤကဲ့သို့သော ဂျာမန်တစ်ယောက်၏ အရည်အချင်းများ အပြည့်အဝရှိသူ ဖြစ်၏။ ဖူးဝဲလ်သည် ၊ သိပ္ပံပညာတစ်ရပ်ကို ယုံကြည်၏။ ထို သိပ္ပံပညာကား အခြားမဟုတ်။ ဖရက်ဒရစ် ဘုရင်ကြီးလက်ထက်က စစ် သမိုင်းများကို လေ့လာပြီးနောက် ၎င်းကိုယ်တိုင် တီထွင် ထားသော ဝါရိဝေဂဗျူဟာခေါ် ရေယဉ်ဆင်းသကဲ့သို့ စစ်ထိုးခြင်း အတတ်ပညာဖြစ်လေသည်။ ဖူးဝဲလ်သည် မကြာမီက ဖြစ်ပွားခဲ့သော စစ်ပွဲများအပိုင်းကို လေ့လာ ခဲ့၏။ သို့ရာတွင် ၎င်း၏အမြင်မှာ ထိုစစ်ပွဲများမှာ နှစ်ဖက် စလုံးက စစ်အစီအရင်များကို ကျွမ်းကျင်

စွာ တတ်မြောက် ခြင်းမရှိဘဲ အဟိတ် တိရစ္ဆာန်များသဖွယ် တစ်ဦးကိုတစ် ဦး စည်းလွတ် ကမ်းလွတ် သတ်ပုတ်တိုက်ခိုက်ခြင်းများ သာ ဖြစ်သည်ဟု ယူဆ၏။ ဖူးဝဲလ်၏အမြင်၌ ထိုစစ်ပွဲ များသည် စစ်ပွဲဟု ခေါ်ဆိုထိုက်သောအရာများ မဟုတ်။ ၎င်းတို့သည် စစ်ဗျူဟာ သဘောတရားများနှင့် ကိုက်ညီ ခြင်းလည်း မရှိ။ ထို့ကြောင့် ၎င်းတို့သည် သိပ္ပံပညာအတွက် လည်း တန်ဖိုးရှိသော အဖြစ်အပျက်များ မဟုတ်ဟု ၁၈ဝ၆-ခုနှစ်၌ ရုရှားနိုင်ငံသည် စစ်အင် အလုံး ယူဆလျက်ရှိလေသည်။

အရင်း ခင်းကျင်း၍ ဂျီနာနှင့် ဩစတတ်ဒေသများသို့ ချီတက်တိုက်ခိုက်ခဲ့ရာ အရေးနိမ့်ခဲ့၏။ တိုက်ပွဲစဉ် စီမံ ကိန်းကို ရေးဆွဲသူများ၌ ဖူးဝဲလ်လည်း တစ်ဦး အပါအဝင် ဖြစ်လေသည်။ သို့သော်လည်း ဖူးဝဲလ်၏ စိတ်ထဲ၌ကား စစ်ရှုံးရခြင်းသည် မိမိ၏သေနင်္ဂဗျူဟာ သဘောတရားများ မှားယွင်းသောကြောင့်ပေလောဟု စိုးစဉ်းမျှ သံသယမဖြစ် ခဲ့ချေ။ ထိုမျှမက ထိုစစ်ပွဲရှုံးရခြင်းသည် မိမိ၏ သေနင်္ဂဗျူဟာ သဘောတရားများကို တိကျစွာ လိုက်နာကျင့်သုံး ခြင်း မပြုသောကြောင့်သာ ဖြစ်သည်ဟုပင် ယူဆလိုက် ချေသေး၏။ စစ်ပျက်ပြီဟု ကြားသည်နှင့် ဖူးဝဲလ်သည် ဝမ်းသာအားရဖြင့် ၎င်း၏ထုံးစံအတိုင်း ခပ်လှောင်မှောင် ပြုံးကာ “စစ်ဗျူဟာ သဘောတရားများနှင့်အညီ စီရင်ခြင်း မရှိသော စစ်ပွဲသည် မအောင်နိုင်ရာဟု အစကတည်းက ပြောခဲ့သည်မဟုတ်လော” ဟူ၍ပင် ပြောဆိုခဲ့သေးသည်။ သဘောတရားတစ်ခု၏ ရည်ရွယ်ချက်သည် ထိုသဘော တရားကို လက်တွေ့ အကောင်အထည်ဖော်ခြင်း ဖြစ်၏။ သဘောတရားရေး ပါရဂူများသည် ၎င်းတို့၏ သဘော တရားကို ခုံမင်စွဲလမ်းခြင်းအရာ၌ သဘောတရား၏ ရည်ရွယ်ချက်ဖြစ်သော လက်တွေ့ဆောင်ရွက်ခြင်းကို မျက် ခြည်ပြတ်သည်အထိ ခုံမင်စွဲလမ်းတတ်ကြလေရာ ဖူးဝဲလ် မှာလည်း ယင်းသို့လျှင် သဘောတရားထဲတွင်သာ နစ်မြုပ်လျက် လက်တွေ့ကို မေ့လျော့နေတတ်သော သဘော တရားရေး ပါရဂူမျိုး ဖြစ်

လေသည်။ သဘောတရားကို စွဲလမ်းအားကြီးသည့်အတွက် ဖူးဝဲလ်သည် လက်တွေ့ လုပ်ဆောင်ရမည့် ကိစ္စဟူသမျှကို ရှုံမုန်းစက်ဆုပ်လျက်ရှိကာ လက်တွေ့နှင့်စပ်လျဉ်းသော စကားများကိုလည်း နား ထောင်ခြင်း မပြုတော့ချေ။ ဖူးဝဲလ်သည် စစ်ပွဲတစ်ပွဲ၌ အရေးရှုံးနိမ့်လျှင် ထိုသို့ အရေးရှုံးနိမ့်ခြင်းကို ဝမ်းသာ တတ်သူမျိုးဖြစ်၏။ အကြောင်းသော်ကား ဖူးဝဲလ်၏အမြင် တွင် လက်တွေ့၌ ဆုံးရှုံးခြင်းသည် သဘောတရားနှင့် ကိုက်ညီခြင်း မရှိသောကြောင့်သာ ဖြစ်သည်။ ထို့ကြောင့် ထိုဆုံးရှုံးမှုသည်ပင် သဘောတရား၏တိကျမှန်ကန်ကြောင်း ကို သက်သေပြလျက်ရှိသည်ဟု ယူဆသောကြောင့်ပေ တည်း။

ဖူးဝဲလ်သည် လက်ရှိစစ်ပွဲနှင့် စပ်လျဉ်းသည့် ၎င်း၏ထင်မြင်ချက်ကို မင်းသားကလေး အင်ဒရေနှင့်  ကိုယ်ရံတော်တပ်မှူး ချာနီရှေ့တို့ကို အရိပ်အမြွက် ပြော ပြ၏။ ထိုသို့ ပြောပြရာ၌ ဖူးဝဲလ်၏ဟန်မှာ ဤစစ်ပွဲ၌ မိမိတို့ဘက်က အရေး နိမ့်မည်ဟု ကြိုတင်သိထားလျက် ထိုသို့ အရေးနိမ့်သည့်အတွက်လည်း ဝမ်းနည်း လိမ့်မည် မဟုတ်ဟူသော လူတစ်ယောက်၏အသွင်ကို ဆောင်လျက် ရှိ၏။ ခေါင်း နောက်တွင် ထောင်လျက်ရှိသော ဆံပင်များ နှင့် နားထင်တစ်ဖက်တစ်ချက်တွင် သပ်ရပ်စွာ ဖြီးထား သော ဆံပင်များသည် ဖူးဝဲလ်၏မာနကို ထင်ရှားစွာ ဖော်ပြ လျက် ရှိကြလေသည်။

ထိုနောက် ဖူးဝဲလ်သည် ဧည့်ခန်းဆောင်ထဲသို့ ဝင်ရောက်သွားလေရာ ၎င်း၏ အောင်မြင်ခန့်ညားသော အသံသည် ထိုခန်းဆောင်ထဲမှ ချက်ချင်း ထွက်ပေါ်လာ လေသတည်း။

## အခန်း ၁၁

မင်းသားကလေး အင်ဒရေသည် ခန်းမဆောင်ထဲသို့ ဝင် သွားသော ဖူးဝဲလ်ကို လှမ်းမျှော်ကြည့်ရင်း ကျန်ရစ်ခဲ့လေ သည်။ ထိုအခိုက် ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်သည် ခန်းမ ဆောင်ထဲသို့ ရေးကြီးသုတ်ပျား ဝင်ရောက်လာကာ မင်းသားကလေး အင်ဒရေကို ခေါင်းညိတ် နှုတ်ဆက်လိုက်သည်။ သို့ရာတွင် ရပ်တန့်ခြင်း မပြုချေ။ ဗိုလ်ချုပ်ကြီး ဘင်နှစ်ဆန် သည် လမ်းလျှောက်သွားရင်း ၎င်း၏ တပ်ရေးဗိုလ်အား ညွှန်ကြားချက်များပေးကာ စာကြည့်ဆောင်ထဲသို့ ဝင် ရောက် ပျောက်ကွယ်သွား၏။ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန် ရေးကြီးသုတ်ပျာ ဖြစ်လာရခြင်းမှာကား ဘုန်းတော်ကြီး သော ဘုရားခံတပ်ကို စစ်ဆေးလှည့်လည်ရာမှ ပြန်လည် ကြွလာတော်မူပြီ ဖြစ်သည့်အတွက် နေရာထိုင်ခင်းများ အဆင်သင့်ပြင်ထားရန် ဖြစ်လေသည်။ ကိုယ်ရံတော် တပ်မှူး ချာနီရှေ့နှင့် မင်းသားကလေး အင်ဒရေတို့သည် စမုတ်ဆောင်ဘက်သို့ ထွက်လာခဲ့ကြ၏။ ပင်ပန်းနွမ်းနယ် ဟန်ဖြင့် မြင်းပေါ်မှ ဆင်းသက်လျက်ရှိသော ဘုန်းတော် ကြီးသော ဘုရားကို တွေ့ရလေသည်။ မြို့စားကြီး ပေါ် လတ်ဆွေသည် များစွာ စိတ်အားထက်သန်လျက်ရှိ သော လက္ခဏာဖြင့် ဘုန်းတော်ကြီးသော ဘုရားထံ တစ်စုံတစ်ရာ ကို လျှောက်တင်လျက်ရှိ၍ ဘုန်းတော်ကြီးသော ဘုရား  မှာမူကား ခေါင်းကိုစောင်းငဲ့လျက် အလိုတော်မကျသော အမူအရာမျိုးဖြင့် နားထောင်လျက်ရှိ၏။ ဘုန်းတော် ကြီးသော ဘုရားသည် နောက်ထပ် ကြားလိုဟန်မရှိသည့် လက္ခဏာနှင့် လှည့်၍ ထွက်တော်မူလာသည်တွင် မျက်နှာ နီမြန်းကာ စိတ်ချောက်ချားလျက်ရှိသော အီတလီမြို့စား ကြီး ပေါ် လတ်ဆွေသည် ဣန္ဒြေကိုပင် မထိန်းနိုင်တော့ဘဲ နောက်ပါးမှ လိုက်ပါလာကာ ဆက်လက် လျှောက်တင် လျက် ရှိလေသည်။

"မှန်လှပါ၊ ဤဒရစ်ဆာခံတပ်ကဲ့သို့ ခံတပ်ကို တည်ဆောက်ရန် အကြံပေးသော ပုဂ္ဂိုလ်နှင့် ထိုက်တန်သော အရာမှာ"

ဘုန်းတော်ကြီးသော ဘုရားသည် လေ့ကားထစ် များကို လှမ်းတက်တော်မူ လာစဉ် အီတလီမြို့စားကြီး ပေါ်လတ်ဆွေကလည်း နောက်မှ တတွတ်တွတ် လျှောက် တင်လျက်ရှိ၏။ မင်းသားကလေး အင်ဒရေကို မြင်လိုက် သည်၌ မြို့စား ကြီး ပေါ်လတ်ဆွေသည် တစ်ချက်မျှ လှမ်းကြည့်လိုက်ပြီးနောက် ဣန္ဒြေမဆည်နိုင် တော့ဘဲ

"မှန်လှပါ ဤဒရစ်ဆာ တပ်စခန်းကို တည် ဆောက်ရန် အကြံပေးသော ပုဂ္ဂိုလ်နှင့် ထိုက်တန်သော အရာမှာ စိတ္တဇဆေးရုံနှင့် ကြိုးစင်တို့မှအပ အခြား ဘာ မျှမရှိပါဘုရား" ။

ဘုန်းတော်ကြီးမြတ်သော ဘုရားသည် အီတလီ မြို့စားကြီး၏စကားကို ဂရု လည်းမပြု၊ ကြားဟန်လည်း မရှိဘဲ မင်းသားကလေး အင်ဒရေကို ကောင်းစွာ မှတ်မိ သည့်အလျောက် နှုတ်ဆက်တော်မူ၏။

"တွေ့ရတာ ဝမ်းမြောက်တော်မူသည် မောင်မင်း၊ ညီလာခံခန်းမဆောင်ထဲ သွားနှင့်၊ ယခုပင် ငါလာမည်"

ဘုရင်မင်းမြတ်သည် ဤသို့မိန့်၍ စာကြည့်ဆောင် ထဲသို့ ဝင်တော်မူ၏။ ဘုရင်မင်းမြတ်၏နောက်ပါးမှ တပ်ရေးချုပ် ဗော်လ်ကွန်စကီ၊ မြို့စားကြီး စတိန်း တို့ ခစား၍ လိုက်ပါသွားကြပြီး စာကြည့်ဆောင် တံခါးပိတ် သွားလေသည်။ မင်းသားကလေး အင်ဒရေသည် ဘုန်း တော်ကြီးသော ဘုရင်မင်းမြတ်၏ ခွင့်ပြုချက်အရ မိမိနှင့် တူရကီနိုင်ငံတွင် သိက္ခမ်းခဲ့သော အီတလီမြို့စားကြီး ပေါ် လတ်ဆွေနှင့်အတူ ညီလာခံကျင်းပမည့် ခန်းဆောင် ထဲသို့ ဝင်လိုက်လာခဲ့လေ သည်။ တပ်ရေးချုပ် ဗော်လ်ကွန်စကီသည် ရွှေနန်းတော် ထုံးစံအတိုင်း ဘုရင်မင်း မြတ်၏ လွှတ်တော်ဌာနအကြီး အကဲအဖြစ် ဆောင်ရွက်လေသည်။ တပ်ရေးချုပ် ဗော်လ် ကွန်စကီသည် မြေပုံလိပ်များကို ကိုင်လျက် ခန်းဆောင် ထဲမှ ထွက်လာ

ကာ မြေပုံများကို စားပွဲတစ်လုံးပေါ်၌ ဖြန့်ချထားလိုက်သည်။ ထို့နောက် ပြဿနာကိုတင်ပြကာ ကြွရောက်လာသော မှူးကြီးမတ်ကြီးများ၊ စစ်မှူးစစ်ကဲ များ၏ သဘောထားကို မေးမြန်းစုံစမ်းခြင်း ပြုလေသည်။ ထိုပြဿနာကား ပြင်သစ်တပ်များသည် ဒရစ်ဆာခံတပ် ကို ကင်းလက်မသဏ္ဍာန် ညှပ်ပိတ်ဝိုင်းဝန်း၍ ချီတက်လာ ပြီဆိုသည့် သတင်းဖြစ်လေသည်။ (ထိုသတင်းမှာ ကောလ ဟာလဖြစ်ကြောင်း နောင်၌ သိရ၏။) ပထမဆုံး စတင်ပြောဆိုသူမှာ ဗိုလ်ချုပ်ကြီး အမ်းဖဲဖြစ်၏။ ဗိုလ်ချုပ်ကြီး အမ်းဖဲက လက်ရှိအခြေအနေ တွင် ကျွန်ုပ်တို့မှာ စစ်ကြပ်လျက်ရှိပြီဖြစ်၍ ထိုအခြေအနေ မှ လွတ်မြောက်ရန် ပီတာစဘတ်ရွှေမြို့တော်သွား လမ်းမကြီးနှင့် မော်စကိုသွား လမ်းမကြီးတို့မှ ဝေးကွာသောဒေသ တစ်ခုတွင် တပ်စွဲ၍ ခံသင့်ကြောင်းဖြင့် မြုန်းစားကြီး အကြံပေးတင်ပြခြင်း ပြုလေသည်။ ဤသို့ အကြံပေး တင်ပြရာတွင် ဗိုလ်ချုပ်ကြီး အမ်းဖဲသည် အကြောင်းတစ်စုံ တစ်ရာ မပြသော်လည်း (မိမိသည်လည်း အခြားသူများ ကဲ့သို့ တတ်ကျွမ်းကြောင်း ထုတ်ဖော်ကြွားဝါလိုသည့်အခါ ကျမှ အကျိုးအကြောင်းများကို ရှည်လျားစွာ ရှင်းလင်း ပြောလေ့ရှိသည်။ ထိုနေရာမှ တပ်များကို တစ်ပေါင်းတည်း စုရုံးစေ၍ ရန်သူ့စစ်အလာကို စောင့်ဆိုင်းသင့်ကြောင်း ဖြင့် ပြောဆိုလျက်ရှိ၏။ အမှန်အားဖြင့် ဗိုလ်ချုပ်ကြီး အမ်းဖဲသည် ဤစီမံကိန်းကို ကာလအတန်အတော်ကြာက ပင် ရေးဆွဲခဲ့ပြီးဖြစ်၍ ယခုအချိန်၌ မိမိ၏ပညာစွမ်းကို ပြရန် အချိန်ရောက်လေပြီဟု ယူဆကာ ရုတ်တရက် တင်ပြလိုက်ခြင်း ဖြစ်၏။ ဗိုလ်ချုပ်ကြီးအမ်းဖဲသည် တပ် ရေးချုပ် တင်ပြသော ပြဿနာကိုကား ဖြေဆိုခြင်း မပြု ချေ။ (ဖြေဆိုခြင်းလည်း မပြုနိုင်ပါ။) ဗိုလ်ချုပ်ကြီးအမ်းဖဲ တင်ပြသည့် စစ်ဆင်မှု စီမံကိန်းမှာ စစ်ပွဲ၏လက္ခဏာ ကို ကောင်းစွာ ခန့်မှန်း၍မရမီ ပြုလုပ်လေ့ရှိကြသော သာမန်စီမံကိန်းမျိုးသာဖြစ်၍ ထူးခြားသည်ဟု မဆိုနိုင် ချေ။ အချို့က ဗိုလ်ချုပ်ကြီး အမ်းဖဲ၏ အကြံပေးချက်ကို တင် ကန့်ကွက်ပြောဆိုကြ၍ အချို့က ထောက်ခံကြ၏။ ၎င်းတို့ အနက် မြို့စား

ကြီးတိုးလ်မှာ ဆွီဒင် ဗိုလ်ချုပ်ကြီး အမ်းဖဲ၏ အဆိုပြုချက်ကို အခြားသူများထက် ပြင်းထန်စွာ ကန့်ကွက် ငြင်းခုံလျက်ရှိရာမှ မိမိဘေးအိတ်ထဲမှ စာအုပ်အပြည့်မှတ် ထားသော မှတ်စုစာအုပ်တစ်အုပ်ကို ထုတ်ယူကာ ဖတ်ပြ ခွင့်ပြုရန် အခွင့်တောင်း လိုက်သည်။ မြို့စားကြီးတိုးလ် သည် ခွင့်ပြုချက်ရသည်နှင့် ၎င်း၏ ထူထဲလှသော မှတ်စု ကို ဖတ်ပြကာ နောက်ထပ် စစ်ဆင်မှုစီမံကိန်းတစ်ခုကို တင်ပြပြန်သည်။ တိုးလ်၏စီမံကိန်းကား အမ်းဖဲ၏စီမံကိန်း နှင့်သော်လည်းကောင်း၊ ဖူးဝဲလ်၏ လက်ရှိ စီမံကိန်းအရ သော်လည်းကောင်း လုံးဝမတူချေ။ ဤတွင် အီတလီမြို့စား ကြီး ပေါ်လတ်ဆွေကလည်း တိုလ်၏စီမံကိန်းကို ကန့် ကွက်ပြောဆိုရာမှ ထိုးစစ် တိုက်စစ် စီမံကိန်းတစ်ခုကို တင်ပြလိုက်ပြန်သည်။ မြို့စားကြီး ပေါ်လတ်က ရုရှား တပ်များအဖို့ ယခုရောက်ရှိနေသော ထောင်ချောက် (မြို့စား ကြီးက ဒရစ်ဆာ ခံတပ်ကို ထောင်ချောက်ဟု ခေါ်သည်။)နှင့် မရေမရာ အခြေအနေများမှ လွတ်မြောက် ရန်မှာ ရန်သူကို ခံစစ် သေနင်္ဂဗျူဟာ မဆင်ဘဲ ထိုးစစ် သေနင်္ဂဗျူဟာ ဆင်ခြင်းသာလျှင် ဖြစ်သည်ဟု တင်ပြလေသည်။ ဤသို့ လူတစ် ကိုယ်လျှင် စစ်ဆင်မှုစီမံကိန်းတစ်မျိုးစီဖြင့် ငြင်းခုံ လျက်ရှိသည့်အချိန်၌ ဗိုလ်ချုပ် ကြီး ဖူးဝဲလ်နှင့် ၎င်း၏ စကားပြန် ဗိုလ်ချုပ်ကြီးဝေါဇိုဂျင် (ဝေါဇိုဂျင် မှာ ဖူးဝဲလ် နှင့် ဘုရင်မင်းမြတ်တို့ နှစ်ဦးကြားတွင် တံတားကြီးသဖွယ် ဖြစ်ပါသည်။)တို့သည် တိတ်ဆိတ်လျက် ရှိကြ၏။ ဖူးဝဲလ် သည် ကဲ့ရဲ့သည့်အမူအရာဖြင့် နှာခေါင်းကို တစ်ချက်မှူ့ လိုက်ပြီးနောက် မျက်နှာလွှဲထားလိုက်သည်။ ဤအမူအရာ ကား မိမိ သည် ဤမျှ အဓိပ္ပာယ်ကင်းမဲ့သော စကားမျိုးကို အဖက်လုပ်၍ ဖြေကြားလောက် အောင် သေးနုပ် သိမ်ဖျင်းသူ တခ်ယောက်မဟုတ်ဟူသော သဘောဖြစ်၏။ သဘာပတိ အဖြစ် ဆောင်ရွက်သည့် တပ်ရေးချုပ် ဗော်လ် ကွန်စကီက ဒူးဝဲလ် အား ၎င်း၏ထင်မြင်ချက်ကို ထုတ်ဖော် ပြောဆိုရန် ပြောကြားသည့်အခါ၌ ဖူးဝဲလ် က

”ကျုပ်ကို မေးစရာလိုသေးသလားဗျ၊ ဗိုလ်ချုပ်ကြီး အမ်းဖဲက စစ်နောက်မြီး ဖျားကို ဟင်းလင်းကြီး ဖွင့်ပေးထား တဲ့ အင်မတန် လျော်ကန် သင့်မြတ်တဲ့ ခံစစ် သေနင်ဗျူဟာ မံကိန်းကြီး တင်ထားပေတာပဲ၊ ဒါမှ မကြိုက်သေးဘူး ဆိုရင်လဲ ဟောဒီက အီတလီမြို့စားကြီး တင်ထားတဲ့ ထိုးစစ်တိုက်စစ် စီမံကိန်းကြီးကို စဉ်းစားကြပေါ့၊ ကျုပ်ကို ဘာလို့ မေးနေကြရသေးသလဲ၊ ခင်ဗျားတို့က သေနင်ဗျူ ဟာ အရာမှာ ကျုပ်ထက် ကျွမ်းကျင်ကြပေတာပဲ”

တပ်ရေးချုပ် ဗော်လ်ကွန်စကီသည် ဖူးဝဲလ်၏ ငါ့လုံးကို ကြားလိုက်ရသည်၌ မျက်မှောင်ကုတ်လိုက်ကာ မိမိသည် ဘုရင်မင်းမြတ်၏ကိုယ်စား မေးနေခြင်းဖြစ် ကြောင်း ပြောလိုက်သည်။ ထိုအခါကျမှ ဖူးဝဲလ်သည် ( မတ်တပ်ရပ်လိုက်ကာ စိတ်အားထက်သန်စွာ ပြောလေ တော့သည်။

“မကွယ်မထောင့် ပြောရရင် ကျုပ်တို့ အရေးတော် ပျက်ခဲ့ပြီဗျ၊ အားလုံး အထွေးထွေးဖြစ်ကုန်ပြီ၊ ဗိုလ်မင်းတို့ တစ်တွေဟာ သေနင်ဗျူဟာအရာ၌ ကျုပ် ထက် တတ်ကျွမ်း တယ်လို့ ယူဆလို့ ထင်ရာတွေ လုပ်ခဲ့ပြီး ကြံရာမရတဲ့ အဆုံးကျ မှ ကျုပ်ဆီ လာအကူအညီတောင်းရင် ကျုပ်လဲ ဘာမှ မကယ် နိုင်တော့ဘူးဗျ၊ ကျုပ်လဲ မပြင်တတ်တော့ဘူး။ အဲ ပြင်ရန် တစ်ခုတည်းသော နည်းလမ်းကတော့ ကျုပ် ရေးဆွဲ ချမှတ်ထားတဲ့ စစ်ဆင်ရေးမူများကို တစ်သဝေ မတိမ်း လိုက်နာတဲ့ နည်းပဲ ရှိတော့တယ်”

ဖူးဝဲလ်သည် အရိုးငေါငေါပေါ်နေသော လက် ချောင်းများဖြင့် တ ဒေါက်ဒေါက် ခေါက်လျက်ရှိ၏။

“ကဲ ဗိုလ်မင်းတို့၊ ဘယ်အခက်အခဲကိုမှ ညည်းညူ မနေကြနဲ့၊ ကျုပ် စစ်ဆင်ရေးမူများအတိုင်း ဆောင်ရွက် လျှင် ဘာမျှ အခက်အခဲ မရှိနိုင်တော့ပေဘူး ဗျ”

ဖူးဝဲလ်သည် မြေပုံဆီသို့ လျှောက်သွားကာ ဒရစ် ဆာတပ်စခန်းကို ရန်သူတို့ မည်သည့်နည်းနှင့်မျှ ပေါက် အောင် တိုက်နိုင်မည်မဟုတ်ကြောင်း၊ ဤအတိုင်းသာ ကြံ့ကြံ့ခံက ရန်သူမဖောက်နိုင်ကြောင်း၊ အကယ်၍ ရန် သူသည် ဒရစ်ဆာတပ် စခန်းကို ကင်းလက်မသဏ္ဍာန် တပ်ဖြန့်၍ တိုက်ချေက ပြုတ်ပြုတ်ပြုန်းမည့်သူမှာ ရန်သူ သာဖြစ်ကြောင်း အကိုးအကားများဖြင့် ပြောဆိုလျက် ရှိ လေသည်။

အီတလီမြို့စားကြီး ပေါ်လတ်ဆွေကား ဂျာမန် စကားကို နားမလည် သည့်အတွက် ဖူးဝဲလ်အား ပြင်သစ် ဘာသာဖြင့် မေးမြန်းလျက်ရှိ၏။ ဝေါ်ဇိုဂျင် သည် ပြင်သစ် စကား ကောင်းစွာ မပြောတတ်သော ၎င်း၏ဆရာ ဗိုလ်  ချုပ်ကြီး ဖူးဝဲလ်၏အနီးတွင် လာရောက်ကာ စကားပြန် အဖြစ် ဆောင်ရွက်ခြင်း ပြုလေ သည်။ သို့ရာတွင် ဖူးဝဲလ် မှာ မိမိတို့၏ စစ်ဆုတ်ခဲ့ရသည့် အခြေအနေ၊ ရှေ့တွင် ဖြစ် နိုင်သည့် အလားအလာ၊ မိမိ၏စီမံကိန်းအရ ကြိုတင် တွက်ချက်နိုင်သော နိမိတ်လက္ခဏာ စသည်တို့နှင့်တကွ အကယ်၍ ယခုအချိန်အထိ မိမိတို့၌ အကျပ်အတည်း တွေ့လျက်ရှိသည်ဆိုပါက ထိုသို့ စစ်ကျပ်လျက်ရှိခြင်းသည် မိမိ၏ စီမံကိန်းအတိုင်း အတိအကျ မဆောင်ရွက်သော ကြောင့်သာ ဖြစ်ကြောင်း ဖြင့် တရစပ် ပြောဆိုလျက်ရှိလေ ရာ စကားပြန်လုပ်သူ ဗိုလ်ချုပ်ကြီး ဝေါ်ဇိုဂျင်မှာ ဖူးဝဲလ်၏ စကားများကို မီအောင် မနည်းကြီး လိုက်ယူရလေသည်။ ဖူးဝဲလ်သည် ခ နိုးခနဲ့ရယ်ကာ မြေပုံဖြင့် ထောက်၍ ရှင်း လင်းပြလျက်ရှိ၏။ ထိုနောက်၌ကား သင်္ချာဆရာတစ် ယောက်သည် အဖြေထွက်ပြီးဖြစ်သော ပုစ္ဆာတစ်ပုဒ်ကို အခြား နည်းအမျိုးမျိုးဖြင့် သက်သေထုတ်ပြရန် ကြိုးစား ခြင်း မပြုလိုတော့သကဲ့သို့ ဖူးဝဲ လ်သည်လည်း ဤမျှ လောက် ရှင်းလင်းလျက်ရှိသော ပုစ္ဆာတစ်ပုဒ်ကို နားမလည် ရာသလောဟူသော ကဲ့ရဲ့ သည့် မျက်နှာထားမျိုးဖြင့် မြေ ပုံထောက်၍ သက်သေထုတ်ပြခြင်းကို ရပ်ဆိုင်းလိုက်သည်။

ဝေါ်ဇိုဂျင်သည် ဖူးဝဲလ်၏နေရာသို့ ထလာကာ ဖူးဝဲလ်၏ စကားများကို ပြင်သစ်ဘာသာဖြင့် ရှင်းလင်းပြောပြလျက် ရှိ၏။ တစ်ချီတစ်ချီ၌လည်း ဖူးဝဲလ်ဘက်သို့ လှည့်ကာ "ဒီအတိုင်း ဟုတ်တယ် မဟုတ်လား ဗိုလ်ချုပ်"ဟု မေး မြန်းလျက် ရှိ၏။ သို့ရာတွင် ရန်ပွဲ၌ မွန်ထူလျက်ရှိသူသည် ကိုယ့်ဘက်သားကို ကိုယ်ပြန်၍တိုက်သကဲ့သို့ ဖူးဝဲလ်သည် လည်း ၎င်းအား ထောက်ခံလျက်ရှိသူ ဝေါ်ဇိုဂျင်ကို ဒေါသတကြီး အော်ဟစ်လျက်ရှိလေသည်။

"ဒါပေါ့ ဗျ၊ ကျုပ်မပြောတဲ့ စကားကို ခင်ဗျားက ထပ်ဖြည့်ချင်သေးလို့လား"

မြို့စားကြီး ပေါ်လတ်ဆွေနှင့် မစ်ရှာတို့သည် ဝေါ်ဇိုဂျင်ကို ပြင်သစ်ဘာသာဖြင့် အတိုက်အခံပြောလျက် ရှိကြ၏။ အမ်းဖဲက ဖူးဝဲလ်ကို ဂျာမန်ဘာသာဖြင့် ချေပ သည်။ တိုးလ်က တပ်ရေးချုပ် ဗော်လ်ကွန်စကီကို ရုရှား ဘာသာဖြင့် ရှင်းပြ၏။ မင်းသားကလေး အင်ဒရေကား ၎င်းတို့ပြောသမျှကို တိတ်ဆိတ်စွာ နားထောင်ရင်း အကဲ ခတ်လျက် ရှိလေသည်။ ၎င်းတို့အားလုံးအနက် ဖူးဝဲလ်ကို မင်းသားကလေး အင်ဒရေ သဘောအကျဆုံး ဖြစ်လေသည်။ ဖူးဝဲလ်ကား ဒေါသကြီး၍ စိတ်ပျက်ဖွယ် ကောင်းလောက်အောင် ဘဝင်မြင့်သည် မှန်သော်လည်း မိမိမှန်သည် ထင်သော အရာကို ပြတ်သားရဲဝံ့စွာ လုပ်သူဖြစ်၏။ ညီလာခံကို တက်ရောက်လာသူများအနက် ဖူးဝဲလ်တစ်ယောက်သာ လျှင် မိမိအတွက် အကျိုးအမြတ် မရှာသူဖြစ်၏။ မည်သူ့ ကိုမျှ ဣဿာမစ္ဆရိယစိတ် မထားသူဖြစ်၏။ ဖူးဝဲလ်၌ အနှစ်နှစ်အလလက အပတ်တကုတ် အားထုတ်၍ ရှာဖွေတီထွင်ခဲ့သော စစ်ဗျူဟာ သဘောတရားတစ်ခုပေါ်တွင် အခြေခံ တည်ဆောက်ထားသည့် စစ်ဆင်မှု စီမံကိန်းကြီး အောင်မြင်သွားစေလိုသော ဆန္ဒတစ်ခုတည်းသာ ရှိလေ သည်။ ဖူးဝဲလ်သည် လူ့ခွစာတစ်ယောက်ဖြစ်၍ တစ်ဖက် သားကို နှိပ်နှိပ်နယ်နယ် ပြောဆိုတတ်သည် မှန်သော်လည်း မိမိ၏ယုံကြည်ချက်ကို သစ္စာရှိ

ရာ၌ကား ရှာမှရှားသူတစ် ယောက်ဖြစ်ခြင်းကြောင့် လေးစားထိုက်သည်သာ ဖြစ်လေ သည်။ ထိုမျှမက ဖူးဝဲလ်မှအပ အခြားသူများ၏ ပြောဆို ချက်အားလုံးထဲ၌ ၁၈ဝ၅ ခု စစ်ဦးစီးဌာနချုပ် အရေးပေါ် အစည်းအဝေးတွင် မရှိခဲ့ဖူးသော အခြင်းအရာတစ်ခု ပေါ် ပေါက်လာခြင်းကိုလည်း တွေ့ရလေသည်။ ထို အခြင်းအရာ ကား နပိုလီယန်၏ သေနင်္ဗျူဟာစွမ်းရည်ကို ဖိန့်ဖိန့်တုန် အောင် ကြောက်လျက်ရှိခြင်း ဖြစ်၏။ ၎င်းတို့အားလုံးသည် ထိုအခြင်းအရာကို ကြိုးစား ဖုံးကွယ်ထားကြသော်လည်း ၎င်းတို့၏ စကားများထဲ၌ အထင်းသားပေါ်လျက် ရှိလေ သည်။ လက္ခဏာမှာ ၎င်းတို့အားလုံးသည် နပိုလီယန် လုပ်လျှင် ဘာမဆိုဖြစ်နိုင်သည်ဟု ထင်နေကြပုံရကာ နပိုလီယန်သည် မိမိတို့အား တစ်ဖက်ဖက်မှ တိုက်ချေတော့ မည်လောဟု ကျောမလုံအောင် ဖြစ်လျက်ရှိကြ၏။ တစ်ဦး ၏အဆိုကို တစ်ဦးက ကန့်ကွက်လိုလျှင်လည်း နပိုလီယန် ၏ နာမည်နှင့် ကိုင်ပေါက်ကြ၏။ ထိုအထဲ၌ နပိုလီယန် သည်လည်း မိမိ၏စစ်ဗျူဟာ သဘောတရားကို နကန်း တစ်လုံးမျှ နားမလည်သည့် အရိုင်းအစိုင်းတစ်ယောက်မျှ သာ ဖြစ်သည်ဟု သဘောထားသူမှာ ဖူးဝဲလ်တစ်ယောက် သာ ရှိလေသည်။ မင်းသားကလေး အင်ဒရေသည် ဖူး `ဝဲလ်အား ကြည်ညိုလေးစားရုံမျှမက သနားလည်း သနားမိ လေသည်။ မှူးကြီးမတ်ကြီးများက ဖူးဝဲလ်အား ပမာမခန့် ပြောပုံ၊ မြို့စားကြီး ပေါ်လတ်ဆွေက ဘုန်းတော်ကြီးမြတ် သော ဘုရားအား ဖူးဝဲလ်အကြောင်း လျှောက်တင်ပုံ၊ ထို မျှမက ဖူးဝဲလ်၏မျက်နှာပေါ်တွင် စိတ်ပျက်အားလျော့သော အမူအရာမျိုး ပေါ်ပေါက်လျက်ရှိပုံ စသည်များကို ထောက် ၍ ဖူးဝဲလ်မှာ တန်ခိုးမှိန်စပြုလျက်ရှိကြောင်း ထင်ရှားလျက် ရှိချေပြီ။ ဤအချင်းအရာကို အားလုံးက သတိထားမိကြ၍ ဖူးဝဲလ်ကိုယ်တိုင်လည်း ရိပ်မိပုံရလေသည်။ ကိုယ့်ကိုယ်ကို အထင်ကြီးခြင်း၊ ဂျာမန်လူမျိုးတို့၏ ထုံးစံအတိုင်း တစ် ဖက်သားကို နှိပ်နှိပ်နယ်နယ် ပြောဆိုတတ်ခြင်း စသည်တို့ ရှိသည်မှန်သော်လည်း ဘေးခွဲ၍ နောက်ထောင်

လျက်ရှိသော ဆံပင်များနှင့် ဖူးဝဲလ်ကို ကြည့်ရသည်မှာ သနားစရာပင် ဖြစ်ပေသည်။ ဖူးဝဲလ်သည် စိတ်ဆိုးခြင်း၊ တစ်ဖက်သား ကို အထင်သေးဟန်ပြခြင်း စသည့် အမူအရာများနှင့် မိမိ၏အဖြစ်ကို ဖုံးကွယ်ထားသည့်တိုင်အောင် မိမိ၏စစ်ဗျူဟာ သဘောတရား မှန်ကန်ကြောင်းကို ဤမျှကြီးကျယ် သော စစ်ပွဲကြီးတွင် မှတ်ကျောက်တင်၍ ကမ္ဘာသိအောင် ပြသရန် အခွင့်အရေးကြီးတစ်ခု ဆုံးရှုံးရလေပြီဟု စိတ် ပျက် အားလျော့လျက် ရှိပုံရ၏။

ဤသို့ဖြင့် အချိန်အတော်ကြာသည့်တိုင်အောင် ဆက်လက် ဆွေးနွေးကြလေရာ အချိန်ညောင်းလာသည်နှင့် အမျှ အငြင်းပွားခြင်းများသည်လည်း အကြိတ်အနယ် ဖြစ်လာကာ တစ်ယောက်ကိုတစ်ယောက် အော်ဟစ်ကြိမ်း မောင်းကြသည်အထိ ဖြစ်လာကြလျက် သဘောတူညီချက် ရရန် တဖြည်းဖြည်း ဝေးလာခဲ့ကြလေပြီ။ မင်းသားကလေး အင်ဒရေသည် ဤသို့ ဘာသာစကားအမျိုးမျိုးဖြင့် တစ် ယောက်တစ်ပေါက် ငြင်းခုံကြခြင်း၊ အော်ဟစ်ကြခြင်း၊ အဆိုပြုကြခြင်း၊ ချေပကြခြင်းစသည်ကို နားထောင်ရင်း အံ့အားသင့်လျက် ရှိလေသည်။ မင်းသားကလေး အင်ဒရေ သည် စစ်မှုတော်ထမ်းခဲ့ချိန်မှစ၍ လောကတွင် သေနင်္ဂဗျူဟာ အတတ်ပညာဟူ၍ ရှိလည်းမရှိ၊ ရှိလည်း မရှိနိုင်၊ ထို့ကြောင့် သေနင်္ဂဗျူဟာ အတတ်ပညာတွင် ဇောဒဂ်ရသူ ဟူ၍လည်း မရှိနိုင်ဟု မကြာခဏ တွေးတောခဲ့ဖူးရာ ဤ စကားများကို နားထောင်ပြီးသည့်နောက်၌ကား မိမိ၏ အတွေး မှန်ချေပြီဟု တစ်ထစ်ချ ယူဆလိုက်လေတော့ သည်။

"စစ်ရေးစစ်ရာဟူသည် အတိမ်အနက် အရှည် အဝေးကို ထောက်ချင့်မြော်ခေါ်ရန် ခက်ခဲလှသောကိစ္စ ဖြစ်သည်။ ပုံသေကားကျ သတ်မှတ်ရန် ခက်ခဲလှသောအမှု ဖြစ်သည်။ ရန်သူ၏ စစ်အင်အားကို သေချာစွာမသိရသေး သည့်အချိန်၌ကား ဆိုဖွယ်မရှိတော့။ သို့ဖြစ်လျှင် ဤမျှ အသိရခက်၍ ဤမျှခန့်မှန်းရန်

ခက်ခဲသော ကိစ္စတစ်ခုနှင့် စပ်လျဉ်း၍ ပုံသေကားကျဖြစ်သော သဘောတရား၊ တိကျ သော သိပ္ပံပညာဟူ၍ အဘယ်မှာလျှင် ရှိနိုင်ဦးမည်နည်း၊ တစ်ရက်တာမျှသော ကာလအတောအတွင်းတွင် ငါတို့၏ တပ်များသည် မည်သည့်အခြေသို့ ရောက်မည်ကို မည်သူမျှ မပြောနိုင်။ ရန်သူ၏တပ်များ မည်သို့သော အခြေသို့ ဆိုက်မည်ကိုလည်း မည်သူမျှ ကြိုတင်ပြောပြခြင်းငှာ မစွမ်း။ ဤတပ်ခွဲ၏ စစ်အင်အား မည်ရွေ့ဟူ၍လည်း မည်သူမျှ မှန်းဆနိုင်သည် မဟုတ်။ စစ်တို့၏သဘော၌ အင်အားများတိုင်းလည်း နိုင်သည်မဟုတ်။ တစ်ခါတစ်ရံ တွင် စစ်မြေ၌ ရန်သူကို မြင်ကာမျှဖြင့် ထွက်ပြေးတတ်သော သူရဲဘောကြောင်သူတို့ မရှိဘဲ ရန်သူကို ရွပ်ရွပ်ချွံချွံ ရဲရဲရင့်ရင့် ထိုးခုတ်ဖြတ်ပိုင်းသော စစ်သည် သူရဲသူဘက်တို့ ဖြင့် ပြည့်စုံက စစ်သည်တပ်သားပေါင်း ငါးထောင်မျှသာ ရှိသော တပ်ခွဲတစ်ခွဲသည် စစ်သည်သုံးသောင်းမျှရှိသော ( တပ်မကြီးကို အောင်နိုင်သည့်အခါလည်း ရှိ၏။ ဤအခြင်းအရာကို ရွှန်ဂရာဘန်တိုက်ပွဲက သက်သေပြခဲ့ပြီ မဟုတ် လော။ တစ်ခါတစ်ရံတွင်လည်း စစ်သည် တပ်သားပေါင်း ငါးသောင်းမျှ ရှိပါလျက် ရှစ်ထောင်မျှသာ ရန်သူအင်အား ကြောင့် တပ်ပျက်၍ ပြေးခဲ့ရသောအခါလည်း ရှိ၏။ ဤ အချက်ကိုလည်း ဩစတားလစ် စစ်ပွဲက သက်သေပြခဲ့ပြီ မဟုတ်ပါလော။ စစ်ရေးမက်ရေးဟူသည် လက်တွေ့ လုပ် ဆောင်ရသောအမှု ဖြစ်ချေသည်။ လက်တွေ့ လုပ်ဆောင်ရ သော အမှုဟူသရွေ့၌ မည်သည့်အရာကိုမျှ လှေနံဓားထစ် စွဲမှတ်ထား၍မရ။ လက်တွေ့ ကိစ္စ ဟူသမျှသည် ရေတွက် ခြင်းငှာ မစွမ်းနိုင်သော အခြေအနေများပေါ်၏ အမှီသဟဲ ပြုလျက် ရှိသည်။ တစ်ဖန် ထိုအခြေအနေများ၌ အရေးပါ အရာရောက်ခြင်းကိုလည်း အချိန်ကာလက ဆုံးဖြတ်သည်။ တစ်ဖန် ထိုအချိန်ကာလသည်လည်း မည်သည့် အချိန်အခါ တွင် ဆိုက်ရောက်မည်ဟု မည်သူမျှ ပြောနိုင်ကြသည် မဟုတ်။ စစ်တို့၏သဘောတွင် ကာလ, ဒေသ, ပယောဂ တည်းဟူသော အကြောင်းသုံးပါးသာ အရင်းဖြစ်သည်။

သို့ဖြစ်လျှင် ဤမျှ ကြိုတင်သိမြင်ခြင်းငှာ မစွမ်းနိုင်သော အမှုနှင့် စပ်လျဉ်း၍ ပုံသေကားကျဖြစ်သော သဘောတရား၊ တိကျသော သိပ္ပံပညာဟူ၍ အဘယ်မှာလျှင် ရှိနိုင်ဦးမည် နည်း။ ဗိုလ်ချုပ်ကြီး အမ်းဖဲက ငါတို့တပ်များသည် စစ် ခါးကျိုးလျက် ရှိပြီဟုဆို၏။ မြို့စားကြီး ပေါ်လတ်ဆကမူ ငါတို့တပ်များသည် ရန်သူ ပြင်သစ်တပ်များကို ကင်း လက်မသဏ္ဌာန် နှစ်ဖက်ညှပ် ပိတ်ထားမိပြီဟု ဆို၏။ ဗိုလ်ချုပ်ကြီး မစ်ရှာက ငါတို့၏ ဒရစ်ဆာခံတပ်သည် နောက်ကျော၌ ဒရစ်ဆာမြစ်ရိုး ခံလျက်ရှိခြင်းကြောင့် စစ်ရေးစစ်ရာအားဖြင့် ဘာမျှ တန်ဖိုးမရှိဟုဆို၏။ ဖူးဝဲလ် ကမူကား ဤသို့ နောက်ကျောတွင် မြစ်ရိုးခံလျက် တည် ရှိခြင်းကြောင့်ပင်လျှင် ငါတို့၏ခံတပ်သည် ရန်သူတိုး၍ မပေါက်နိုင်အောင် ခိုင်ခံ့သည်ဟု ဆိုပြန်သည်။ တစ်ဖန် မြို့စားကြီး တိုးလ်က စစ်ဆင်မှုစီမံကိန်းတစ်ခုကို တင်၍ ဗိုလ်ချုပ်ကြီး အမ်းဖဲကလည်း အခြားစီမံကိန်းတစ်ခုကို တင်ပြန်သည်။ သူတို့အားလုံး၏ စီမံကိန်းများသည် ကောင်းသည်ဟုလည်း မဆိုသာ၊ မကောင်းဟူ၍လည်း မပြောနိုင်။ တကယ်ကောင်း မကောင်းကိုကား စစ်ပွဲနှင့် ဒိဋ္ဌကြုံတွေ့သည့်အခါကျမှပင် သိနိုင်ချေတော့မည်။ ဤသို့ ဖြင့် ရေရာတိကျစွာ ပြောဆိုနိုင်ခြင်း မရှိဘဲလျက် သူတို့ သည် အဘယ့်ကြောင့် သေနင်္ဂဗျူဟာအတတ်တွင် တစ်ဖက် ကမ်းခတ်သူဟူသော စကားကို ပြောဆိုနေကြသနည်း။ လူတစ်ယောက်သည် မိမိအတွက် စားသောက်ဖွယ်ရာတို့ကို မည်သည့်အချိန်တွင် ယူလာရမည်ဟု အမိန် ပေးတတ်ရုံ၊ ဘယ်လှည့် ညာလှည့် အမိန့်ပေးတတ်ရုံမျှဖြင့် ထိုလူကို သေနင်္ဂဗျူဟာအရာတွင် တစ်ဖက်ကမ်းခတ်အောင် ကျွမ်း ကျင်သူဟု ခေါ်ရတော့မည်လော။ စစ်ဗိုလ်များ ဤသို့ အမိန့်ပေးနိုင်ခြင်းမှာ သေနင်္ဂဗျူဟာ အတတ်တွင် တစ်ဖက် ကမ်းခတ်အောင် ကျွမ်းကျင်ခြင်းကြောင့် မဟုတ်။ ၎င်းတို့ ၌ အခွင့်အာဏာနှင့် ရာထူးဂုဏ်ထူး အဆောင်အယောင် များ ရှိသောကြောင့်သာ ဖြစ်သည်။ ဤတွင် ကပ်ပါးရပ်ပါး များကလည်း အာဏာရှိသူများကို မြှောက်ပင့်

ကာ ဗိုလ် ချုပ်ကြီးများ တော်ပါပေသည်။ ပါရမီ ထူးချွန်သူ ဖြစ်ပါ ပေသည်။ သေနင်္ဂဗျူဟာအရာ၌ တစ်ဖက်ကမ်းခတ်အောင် တတ်မြောက်ပါပေသည်ဟု မရှိသော အရည်အချင်းကို ရှိလေဟန်ပြု၍ ပြောဆိုတတ်ကြသည်။ ငါတို့တပ်မတော်၌ ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်းသည် အတော်ဆုံးဟု ဆို ကြသည်။ ဤသည်ကို နပိုလီယန်ကိုယ်တိုင်ကလည်း ဝန်ခံထားသည်။ နပိုလီယန်သည်လည်း တော်လှစွာသော စစ်ဘုရင်တစ်ဦးဟု ကျော်ကြားလျက်ရှိသည်။ စင်စစ်၌ကား ဤသို့ မဟုတ်ပြီ။ ငါတွေ့ဖူးသည့် အတော်ဆုံးဆိုသော စစ်ဗိုလ်ချုပ်များ၌ တော်သော အရည်အချင်းများ မရှိရုံမျှ မက ၎င်းတို့သည် အဆင်ခြင်ဉာဏ် ကင်းမဲ့၍ အသိတရား ခေါင်းပါးလှသူများသာ ဖြစ်ချေသည်။ နပိုလီယန်၏ အဆင်ခြင်ဉာဏ်ကင်း၍ ဘဝင်မြင့်ဟန်ရှိသော မျက်နှာထား ကို ဩစတားလစ် စစ်မြေပြင်တွင် ငါမြင်ဖူးခဲ့ပြီ မဟုတ် လော။ အချုပ်၌ကား စစ်ဗိုလ်ကောင်းဆိုသူတို့၌ မည်သည့်အရည်အချင်းမျှ ရှိရန်မလို။ ၎င်းတို့အဖို့ လိုအပ်သော တစ်ခုတည်းသော အရည်အချင်းမှာ အခြားမဟုတ်။ မေတ္တာ ထားတတ်ခြင်း၊ ကဗျာစာပေကို ခုံမင်ခြင်း၊ ကြင်နာသနား `တတ်ခြင်း၊ သင့်မသင့် တော်မတော်ကို လေးနက်စွာ တွေးခေါ်ဆင်ခြင်တတ်ခြင်း စသော အကောင်းဆုံးနှင့် အမြင့်မြတ်ဆုံးသော လူ့အရည်အသွေးများ ကင်းမဲ့ခြင်း၊ ထိုအရည်အသွေးများ မရှိခြင်း စသည့် အရည်အချင်း ( တစ်ခုသာလျှင် စစ်ဗိုလ်လုပ်သူတို့၏ လိုအပ်သော အရည် အချင်းကြီး ဖြစ်တော့သည်။ အကြင်စစ်ဗိုလ်တစ်ဦးသည် အသိဉာဏ်လွန်စွာ ခေါင်းပါးအံ့။ အသိအမြင် ကျဉ်းမြောင်း အံ့။ မိမိဆောင်ရွက်လျက်ရှိသော ကိစ္စသည် လွန်စွာ အရေး ကြီးသည်ဟု ခိုင်မြဲစွာ ယုံကြည်အံ့။ (ထိုသို့ ယုံကြည်ခြင်း မရှိလျှင် ထိုနေရာတွင် ကြာကြာ သည်းမခံနိုင်ပါ။) ထို စစ်ဗိုလ်ကို ရဲရင့်သော ပြတ်သားသော သူရသတ္တိနှင့် ပြည့်စုံသော ခေါင်းဆောင်ဟု ခေါ်ကြသည် မဟုတ်လော။ စစ်ဗိုလ်တို့၌ ကြင်နာခြင်း၊ ချစ်ခင်ခြင်း စသည်တို့ မရှိ ရန် တရား၏ မတရား၏ စဉ်းစား

ဝေဖန်ပိုင်းခြားနိုင်သော အရည်အချင်းမရှိရန် ဘုရားသခင်က ဖန်တီးခဲ့သည် မဟုတ် လော။ စင်စစ်၌ သေနင်္ဂဗျူဟာတွင် တေဒဂ်ရသူဟူသော အယူအဆကို တီထွင်ခဲ့ကြခြင်းမှာ စစ်ဗိုလ်များ၌ အာဏာ များ အခွင့်အရေးများ ရှိနေ သောကြောင့်သာ ဖြစ်သည်။ စစ်ပွဲတစ်ပွဲ၏ အနိုင်အရှုံးသည် စင်စစ် စစ်ဗိုလ်များ အပေါ် ၌ မတည်။ စစ်မြေတွင် အသက်ကို ဖက်နှင့်ထုပ်တိုက် ရသော တပ်သား များအပေါ်သာ တည်ချေသည်တကား။ နောက်လိုက် တပ်သားအဖြစ် အမှုထမ်းရ ခြင်းသာလျှင်  နိုင်ငံနှင့် လူမျိုးအတွက် အသုံးဝင်ချေသည်တကား”

မင်းသားကလေး အင်ဒရေသည် ဗိုလ်ချုပ်ကြီးများ ငြင်းခုံနေကြသည်ကို နားထောင်ရာက ထိုသို့ တွေးတော မိ၏။ ညီလာခံစဲ၍ အားလုံးထပြန်ကာ မြို့စား ကြီး ပေါ် လတ်ဆွေက ခေါ်လိုက်သည့်အခါတွင်မှ မင်းသားကလေး အင်ဒရေသည် သတိရလာလေတော့သည်။

နောက်တစ်နေ့ ညီလာခံ၌ ဘုန်းတော်ကြီးသော ဘုရားက မည်သည့်ဌာန တွင် အမှုထမ်းလိုကြောင်းဖြင့် မင်းသားကလေး အင်ဒရေအား မေးမြန်းတော်မူ၏။ မင်းသားကလေး အင်ဒရေသည် ဘုရင့်အပါးတွင် ခစားခွင့် ပြုရန် လျှောက်ထား တောင်းဆိုခြင်း မပြုဘဲ တပ်မတော် ထဲထွင် အမှုတော်ထမ်းလိုကြောင်း လျှောက်ထားလေရာ ထိုအချိန်မှစ၍ မင်းသားကလေး အင်ဒရေသည် မျက်နှာ ပွင့် လှသော ရွှေနန်းတော် အမှုတော်ထမ်းဘဝနှင့် ကင်းဝေး လာခဲ့လေသတည်း။

# အခန်း ၁၂

စစ်မြေပြင်သို့ ချီတက်ခြင်းမပြုမီကလေး၌ နီကိုလေသည် မိဘများထံမှ စာတစ်စောင်ရရှိခဲ့၏။ ထိုစာထဲတွင် နာတာ ရှာ နာမကျန်းဖြစ်လျက် ရှိကြောင်းနှင့် နာတာရှာနှင့် မင်းသားကလေး အင်ဒရေတို့၏ စေ့စပ်ကြောင်းလမ်းခြင်း ဖျက်သိမ်းလိုက်ကြောင်း (ဤကိစ္စမှာ နာတာရှာ သဘော အရ ဖြစ်ကြောင်း)တို့ကို အတိုချုပ် ရေးသားထားလေသည်။ ထို့ပြင် နီကိုလေကိုလည်း တပ်မှ အပြီးအပိုင် နုတ်ထွက် ခဲ့၍ အိမ်သို့ ပြန်လာခဲ့ရန် ရေးသားထား၏။ နီကိုလေ သည် စာကိုရရှိသည့်အခါ၌ တပ်မှ နုတ်ထွက်ရန် မဆို ထားနှင့်၊ ခွင့်ယူရန်ကိုပင် ကြိုးစားခြင်းမပြုတော့ဘဲ နာ တာရှာ မကျန်းမာကြောင်းနှင့် ကြောင်းလမ်းခြင်းကို ဖျက်သိမ်းလိုက်ကြောင်း ကြားရသဖြင့် စိတ်မကောင်း ကြောင်း၊ မိဘတို့၏ သဘောကျ တပ်မှနုတ်ထွက်၍ အမြန်ပြန်လာနိုင်ရန် အတတ်နိုင်ဆုံး ကြိုးစားမည်ဖြစ် ကြောင်းဖြင့် စာတစ်စောင် ပြန်ကြားလိုက်သည်။ ဆွန်ယာ ထံသို့ကား တစ်စောင် သတ်သတ်ရေးလိုက်လေသည်။

အသက်နဲ့ထပ်တူ ချစ်ရတဲ့ ဆွန်ယာ

အစ်ကိုရဲ့ ယောကျ်ားဂုဏ်သိက္ခာကို ငဲ့ကွက်လွန်း လို့သာ စစ်မြေပြင်မှာ အောင့်အည်းနေရပေမယ့် ကိုယ့်တိုင်းပြည်ကို ပြန်လာချင်လှပြီ ဆွန်ယာ၊ အစ်ကိုတို့တပ်လဲ ရှေ့တန်းစစ်မျက်နှာကို ချီဖို့ ပြင်နေရပြီ၊ စစ်မြေပြင်ကို ထွက်ရခါနီးမှ ခွင့်ယူ ပြီး အိမ်ကိုပြန်မယ်ဆိုရင် အစ်ကိုဟာ အစ်ကိုသွေး သောက်တွေရဲ့အမြင်မှာ သူရဲဘောနည်းရာ ရောက် နေလိမ့်မယ် ဆွန်ယာ၊ ဒါတွင် မကဘူး၊ အစ်ကို ကိုယ်နှိုက်ကလဲ အဖနိုင်ငံတော်ကြီးရဲ့ အကျိုးကို မကြည့်ဘဲ ကိုယ့်တစ်ဦးတည်းရဲ့ ပျော်ရွှင်မှုလောက် ကိုသာ ကြည့်ခြင်းမျိုးကို စက်ဆုပ်တယ်၊ ရှက်လဲ ရှက်တယ်၊ ဒါပေမဲ့ ဘယ်လိုပဲဖြစ်စေ ဒီတစ်ခါဟာ ဖြင့် အစ်ကိုနဲ့ ဆွန်ယာတို့ နောက်ဆုံးခွဲခွာပြီး နေရခြင်းပဲလို့ အစ်ကို ယူဆပါတယ်။ ဒီနောက် မှာတော့ ခွဲရဖို့အကြောင်း မရှိတော့ပါဘူး၊ တကယ် ပါ အချစ် ရယ်၊ ဟောဒီ စစ်ကြီးပြီးသွားလို့ အစ်ကိုလဲ မသေမ

ပျောက် အသက်ရှင်နေဦးမယ်၊ ဆွန်ယာကလဲ အစ်ကိုကို ချစ်မြဲချစ်နေဦးမယ် ဆိုရင် အစ်ကိုလေ အားလုံးကို တစ်ခါတည်း စွန့်ပြီး ငှက်ကလေးများလို အချစ်ထံကို အရောက် ပျံခဲ့မယ် အချစ်ရေ့၊ အဲဒီတော့မှ အစ်ကိုအချစ် ကလေးကို အစ်ကိုရဲ့ အဆင်သင့်ဖြစ်နေတဲ့ ရင်ခွင် ထဲမှာ မခွာတမ်း၊ သေတစ်ပန်သက်ဆုံး ထွေးပိုက်ထားမယ် သိရဲ့လား။

နီကိုလေသည် ကတိပေးထားသည့်အတိုင်း အိမ်သို့ ပြန်ကာ ဆွန်ယာအား လက်ထပ်ရန် ဖြစ်၏။ သို့ရာတွင် စစ်မြေပြင်သို့ ချီတက်ရတော့မည် ဖြစ်သည့်အတွက် ဤအစီအစဉ်များကို အားလုံးဖျက်လိုက်ရခြင်း ဖြစ်လေသည်။ နီကိုလေသည် ထိုနှစ်ဆောင်းဦးပေါက်၌ အိုထရာနိုတွင် အမဲလိုက်မည်။ ဆောင်းတွင်း နာတာလူးပွဲတော်တွင် ပျော်ကြမည်။ မိမိချစ်သော ဆွန်ယာနှင့်လည်း အတူနေရ တော့မည် စသဖြင့် ရွှင်လန်းငြိမ်းချမ်းသော ဘဝကို တွေးတောကြည်နူးလျက် ရှိ၏။ "တပ်က ထွက်ပြီးရင် ဇနီးကောင်းတစ်ယောက်ရယ်၊ သားလေးတွေ သမီးလေး တွေရယ်၊ တောလိုက်ခွေးကောင်းကောင်းတစ်အုပ်ရယ်၊ ခွေးဝံပုလွေကြီး တစ်ဒါဇင်လောက်ရယ်၊ စိုက်ပျိုးရေးအလုပ် ရယ်၊ အိမ်နားနီးချင်းတွေရယ် အေးအေးဆေးဆေး နေတော့ မယ်၊ ခရိုင်ထဲမှာရှိတဲ့ သူကောင်းမျိုးနွယ်တွေက ရွေးကောက် တင်မြှောက်ရင် ခရိုင်နာယကအဖြစ် အမှုတော်ထမ်းမယ်" ဟု တွေးနေမိသည်။ သို့ရာတွင် စစ်မြေသို့ ချီတက်ရ တော့မည်ဖြစ်သဖြင့် တပ်ရင်းမှခွာ၍ မရတော့ချေ။ သို့ တိုင်အောင် နီကိုလေသည် ရောက်လေရာဘဝတွင် ပျော် ပျော်နေတတ်သူ ဖြစ်သည့်အလျောက် တပ်ထဲ၌ နေထိုင် ရခြင်းကိုလည်း ကျေနပ် နှစ်သိမ့်လျက်ရှိပေသည်။ ဖြစ် လေရာဘဝတွင် ပျော်ပျော်နေနိုင်ရန် ပျော်စရာကိုလည်း ရှာနိုင်သူ ဖြစ်ပေသည်။

နီကိုလေ ခွင့်မှပြန်လာစဉ်က ၎င်း၏သွေးသောက် များက ဝမ်းသာအားရ ကြိုဆိုကြသည်။ ထို့နောက် တပ် ရင်းအတွက် မြင်းသစ်များ ရှာဖွေရန် စေလွှတ်ခြင်း ခံရ ပြန်သည်။ နီကိုလေသည် မြင်းသစ်ရှာရန်အတွက် ယူကရိန်း နယ်ဘက်သို့ ထွက်သွား၍ ပြန်လာသောအခါ၌ မိမိကြိုက် နှစ်သက်သော အကောင်းဆုံး အမျိုးအစားမြင်းများကို ရှာဖွေရရှိလာခဲ့သည်တွင် တပ်မှူးများ၏ ချီးကျူးခြင်းကို ခံရလေသည်။ နီကိုလေသည် ယင်းသို့ ယူကရိန်းနယ်သို့ မြင်းရှာထွက်ခွာလျက်ရှိစဉ် ဗိုလ်ကြီးရာထူးသို့ တိုးမြှင့်ခြင်း ခံရကာ

တပ်ရင်းကို စစ်တွင်းကာလ တပ်တစ်တပ်အနေဖြင့် လည်း တပ်သားဦးရေ တိုးချဲ့ဖွဲ့စည်း လိုက်သောကြောင့် နီကိုလေမှာ ယခင်တပ်ခွဲသို့ ပြန်၍ တာဝန်ချထားခြင်း ခံရလေသည်။

သို့ဖြင့် ရုရှားတပ်များသည် စစ်မြေသို့ ချီတက် လာခဲ့ကြ၏။ နီကိုလေတို့တပ်ရင်း သည် ပိုလန်ပြည်သို့ ချီတက်လာခဲ့လေသည်။ တပ်ဗိုလ်သစ်များ၊ တပ်သားသစ် များ၊ မြင်း သစ်များလည်း ရောက်ရှိလာကြလေသည်။ ထို မျှမက တပ်ဗိုလ်တပ်သားတိုင်းမှာလည်း စစ်ပွဲစတင်ဖြစ်ပွား ချိန်တွင် ဖြစ်ပေါ်တတ်သော ရွှင်ပျမြူးထူးခြင်းဖြင့် အား တက်လျက် ရှိ ကြလေသည်။ ယခုအချိန်၌ နီကိုလေသည် တပ်ရင်းတွင် သြဇာရှိသောနေရာသို့ ရောက်ရှိ နေပြီဖြစ်သည့် အတွက် စစ်သားဘဝ၏ ပျော်မှုပါးမှုများတွင် အချိန်ကုန် လျက် ရှိလေ သည်။ မိမိသည် စစ်ပြီးလျှင် တပ်က ထွက် တော့မည်ဖြစ်ရာ ဤအချိန်သည် စစ်သား ဘဝ၌ အားရပါးရ ပျော်ပါးရန် အချိန်မဟုတ်ပါလော။

ရုရှားတပ်များသည် အုပ်ချုပ်ရေး၊ နိုင်ငံရေး၊ စစ် ရေး စသည့် ရှုပ်ထွေးသော အကြောင်းများစွာတို့ကြောင့်  ဝီလနာမြို့မှ ဆုတ်ခွာခဲ့ကြ၏။ ရုရှားတပ်မတော်ကြီးသည် နောက်သို့ တစ်လှမ်း တစ်လှမ်းဆုတ်လာတိုင်း စစ်ဦးစီး ဌာနချုပ်တွင်လည်း ငြင်းခုံမှုများ၊ သဘောကွဲလွဲမှုများ၊ အတိုက်အခံဖြစ်မှုများသည် ရှုပ်ထွေးသောအသွင်ဖြင့် တစ်ခု ပြီးတစ် ခု ပေါ်ပေါက်လျက်ရှိလေသည်။ သို့သော်လည်း ပါဗလိုဂရက် မြင်းတပ်အဖို့ကား ယခုကဲ့သို့ မိုးစဲလေသာ ဖြစ်သော နွေရာသီ၏ အသာယာဆုံးအချိန်တွင် စားနပ် ရိက္ခာ အလုံအလောက်ဖြင့် ဆုတ်ခွာလာရခြင်းဖြစ်သည့် အလျောက် ဆုတ်ခွာခဲ့ရခြင်းသည် အပန်းကြီးလှသောကိစ္စ မဟုတ်ဘဲ ပျော်စရာကောင်းလျက် ရှိလေ၏။

စိတ်ဓာတ်ကျခြင်း၊ တွေဝေခြင်း၊ တစ်ယောက်ကို တစ်ယောက် မကောင်းကြံခြင်း ဟူသမျှတို့သည် စစ်ဦးစီး ဌာနချုပ်တွင်သာ ကြီးစိုးလျက် ရှိကြ၍ တပ်မတော်အတွင်း ၌မူကား တပ်သားများသည် မည်သည့်အရပ်သို့ ဆုတ်ခွာ နေသည်ကိုလည်းကောင်း၊ မည် သည့်အတွက် ဆုတ်ခွာ လျက်ရှိခြင်း ဖြစ်သည်ကိုလည်းကောင်း အနည်းငယ်မျှ မစဉ်းစား မိကြချေ။ ဆုတ်ခွာရခြင်းအတွက် ဝမ်းနည်းကြ သည်ဆိုလျှင် ထိုဝမ်းနည်းခြင်းသည် မိမိ တို့နေသားကျ လျက်ရှိသည့်အိမ်များ (အရပ်သူ အရပ်သားများ၏ အိမ်များ ကို သိမ်းပိုက်

ထားခြင်း ဖြစ်သည်။)နှင့် ပိုလန်သူချောချော ကလေးများကို ခွဲခွာခဲ့ရခြင်းကြောင့်သာ ဖြစ်ပေလိမ့်မည်။ အခြေအနေ ဆိုးလျက်ရှိသည်ဟူသော အသိတရားသည် ၎င်းတို့ ခေါင်းထဲသို့ မတော်တဆ ဝင်ရောက်လာပြန်လျှင် လည်း ၎င်းတို့သည် စစ်သားကောင်းများပီပီ ညှိုးငယ်ခြင်း မရှိရလေအောင် နည်းလမ်းရှာကြသည်။ ဆိုးရွားလျက်ရှိ သော အခြေအနေများကို စဉ်းစားခြင်းမပြုဘဲ ချက်ချင်း လက်ငင်း လက်တွေ့လုပ်ဆောင်ရမည့် အလုပ်များကိုသာ အာရုံစူးစိုက်ခြင်း ပြုကြသည်။ ရုရှားတပ်များသည် ဝီလနာသို့ မရောက်မီ တစ်နေရာတွင် ပျော်ပျော်ပါးပါး စခန်းချကြကာ ပိုလန် အပျိုချောများနှင့် မိတ်ဖွဲ့ကြသည်။ ( ဘုန်းတော်ကြီးသော ဘုရား၏ ဗိုလ်ရှုခံသဘင်အတွက် ပြင်ဆင်ကြသည်။ ဘုန်းတော်ကြီးသော ဘုရားနှင့် စစ်မှူး စစ်ကဲများ၏ ဗိုလ်ရှုခံ သဘင်သို့ တက်ရောက်ဆင်နွှဲကြသည်။ မကြာမီ သယ်ဆောင်ခြင်း မပြုနိုင်သော စားနပ် ရိက္ခာများအားလုံးကို ဖျက်ဆီး၍ စဗင်စယာနီမြို့ကလေးသို့ ဆုတ်ခွာလာခဲ့ရမည် ဟူသော အမိန့်ရောက်ရှိလာလေသည်။

စဗင်စယာနီမြို့ ကလေးကား နောင်သောအခါ၌ မြင်းတပ် သားများအဖို့ အမူးစခန်းဟု နာမည်တွင်ခဲ့လေသည်။ အဘယ်ကြောင့်ဆိုသော် ပိုလန်အရပ်သူ အရပ်သားများ ထံမှ မြင်းများ၊ ရထားများ၊ ကော်ဇောများ စသည်တို့ အားလုံးကို သိမ်း ယူခဲ့ကြသဖြင့် တပ်မတော်သားများ၏ အပြုအမူနှင့် စပ်လျဉ်း၍ တိုင်ချက်အမြောက်အများ ရရှိသောကြောင့် ဖြစ်လေသည်။ နီကိုလေသည် စဗင်စယာနီ မြို့ကလေးကို မမေ့နိုင်သေးချေ။ ထိုနေ့၌ နီကိုလေမှာ တပ်အသစ်ကို စတင်အုပ်ချုပ်ရသဖြင့် မိမိ၏တပ်ခွဲမှူး တပ်ကြပ်ကြီး အသစ်ပြောင်းရသည့်နေ့ ဖြစ်၏။ မိမိကို မသိသေးသော တပ်သားသစ်များ ဖြစ်သဖြင့် မူးယစ်သောက် စားကာ ထိန်း၍မရအောင် ဆူပူသောင်းကျန်းနေ သောကြောင့် အရက် စည်ငါးလုံး ထုတ်ပေးရသောနေ့လည်း ဖြစ်လေသည်။ နီကိုလေတို့တပ်များသည် စဗင်စယာ နီမြို့ကလေးမှ တစ်ဖန် ဒရစ်ဆာမြစ်ကမ်းသို့ ဆုတ်ခွာလာ ခဲ့ရပြန်သည်။ ထိုမှ တစ်ဖန် ဒရစ်ဆာ မြစ်တစ်ဖက်ကမ်းကို ကူး၍ ရုရှားပြည် နိုင်ငံ နယ်စပ်အထိ ဆုတ်ခွာလာခဲ့ပြန် သည်။ ' ဇူလိုင်လ ၁၃ ရက်နေ့မှာ ပါဗလိုဂရက် မြင်းတပ် များ ရန်သူနှင့် ပထမဆုံး အကြီးအကျယ် တိုက်ပွဲဆင်နွှဲရ သောနေ့ ဖြစ်သည်။

ထိုတိုက်ပွဲမဖြစ်ပွားမီ တစ်နေ့ဖြစ်သော ဇူလိုင်လ ၁၂ ရက်နေ့က ပြင်းထန်လှသော မိုးသက်မုန်တိုင်းကြီး တိုက်ခတ်၏။ ၁၈၁၂ ခုနှစ် နွေရာသီကား မိုးသက်မုန် တိုင်းများ မကြုံဖူးအောင် တိုက်ခတ်ခြင်းကြောင့် မေ့နိုင်ဖွယ် မရှိသော နွေရာသီ ဖြစ်ပေသည်။

ထိုစဉ်က ပါဗလိုဂရက် မြင်းတပ်ခွဲနှစ်ခုသည် ဂျုံ ခင်းတစ်ခင်းထဲ၌ တပ်နားလျက်ရှိကြ၏။ ဂျုံပင်များ၌ အနှံများထွက်လျက်ရှိပြီဖြစ်သော်လည်း မြင်းများ၊ ကျွဲ နွား တိရစ္ဆာန်များ နင်းချေထားသဖြင့် ကျေမွလျက်ရှိပေ ပြီး မိုးသည် သဲသဲမဲမဲ ရွာချလျက်ရှိ၏။ နီကိုလေနှင့် သူ့ အချစ်တော်ဖြစ်သော အီလျင်အမည်ရှိ ဗိုလ်ကလေးတစ်ဦး သည် ကပျာကသီ ထိုးထားသော ကနဖျင်းကလေးအောက် ၌ ထိုင်နေကြလေသည်။ ပါးပြင်ပေါ်သို့ရောက်အောင် ရှည်လျားလှသော နှုတ်ခမ်းမွေးကားကားနှင့် တပ်ဗိုလ် တစ်ယောက်သည် မိုးမိသဖြင့် နီကိုလေတို့ ကနဖျင်းအောက်  သို့ ဝင်လာလေသည်။

“စစ်ဦးစီးဌာနချုပ်က ပြန်လာတာ ဗိုလ်ကြီးရ၊ ဗိုလ်ချုပ်ကြီး ဇေ့စတီ စွန့်စားပုံတွေ ကြားပြီးပလား ဗိုလ်ကြီး”

တပ်ဗိုလ်သည် စစ်ဦးစီးဌာနချုပ်မှ ကြားခဲ့ရသော ဆယ်လ်တာနော့ တိုက်ပွဲသတင်းကို နီကိုလေတို့အား ဖောက်သည်ချလျက် ရှိလေသည်။

နီကိုလေသည် ဆေးတံကို ဖွာလျက်ရှိရာမှ ကုပ် ပေါ်တွင် မိုးရေများ စီးကျလျက်ရှိသဖြင့် ခေါင်းကို လှုပ် ယမ်းရင်း စိတ်မပါ့တပါဖြင့် နားထောင်လျက်ရှိ၏။ တစ် ချက်တစ်ချက်၌ မိမိအနားသို့ တိုး၍တိုး၍လာသော ဗိုလ် ကလေး အီလျင်ကို လှမ်းကြည့်လိုက်သည်။ အီလျင်မှာ ဆယ့်ခြောက်နှစ်ခန့်သာ ရှိသေး၍ နီကိုလေ၏တပ်သို့ မကြာခင်က ရောက်ရှိလာခဲ့သော ဗိုလ်ကလေးတစ်ဦး ဖြစ်၏။ လွန်ခဲ့သော ခုနစ်နှစ်ခန့်က နီကိုလေသည် ဗိုလ် ကြီး ဒင်နီဆော့ဗ်၏ အချစ်တော်ကလေးတစ်ဦး ဖြစ်ခဲ့ သကဲ့သို့ ယခုအခါ၌ အီလျင်သည်လည်း ဗိုလ်ကြီးနီကိုလေ ၏ အချစ်တော်ကလေး ဖြစ်လျက်ရှိပေသည်။ အီလျင်သည် နီကိုလေကို အစစအရာရာတွင် လိုက်၍ အတုခိုးကာ ရည်းစားသည် မိန်းကလေးတစ်ယောက်က ၎င်း၏ရည်းစား ကို ချစ်မြတ်နိုးခြင်းမျိုးဖြင့် နီကိုလေကို ချစ်ခင်မြတ်နိုး လျက် ရှိလေသည်။

နှုတ်ခမ်းမွေးကားကားနှင့် စစ်ဗိုလ်ဖြစ်သော ဇဒါဇင် စကီသည် ဆယ်လ်တာနော့ တာတမံကြီး သိမ်းယူရာတွင် ဗိုလ်ချုပ်ကြီး ဒေါ့စကီ မည်မျှ စွန့်စားတိုက်ခိုက်ကြောင်း၊ ဗိုလ်ချုပ်ကြီး ဒေါ့စကီ၏ စွန့်စားမှုသည် ရာဇဝင်တွင် လောက်ကြောင်း၊ ရန်သူ့ကျည်တို့ ထူထပ်စွာ ကျရောက် လျက်ရှိသည့်ကြားထဲမှ ဗိုလ်ချုပ်ကြီး ရေစကီသည် သား နှစ် ယောက်ကို တာရိုးပေါ်သို့ ခေါ်၍ တက်လာခဲ့ကြောင်း စသည်တို့ကို ပြောပြလျက်ရှိ၏။ နီ ကိုလေသည် ဇဒါဇင် စကီ၏စကားကို ငြိမ်သက်စွာ နားထောင်လျက်ရှိ၏။ သို့ရာတွင် နီကို လေအဖို့ကား ဇဒါဇင်စကီ၏ စိတ်အား ထက်သန်မှုကို ထောက်ခံပြောဆိုရန် ဝေးစွ၊ နားထောင် ရခြင်းကိုပင် ရှက်လျက်ရှိလေသည်။

လူများသည် တိုက်ပွဲ စွန့်စားခန်းများ၊ စစ်မြေပြင် ( ကိုယ်တွေ့များကို ပြန်လည် ပြောကြရာတွင် အပိုကလေး  များ ထည့်သွင်းပြောဆိုတတ်ခြင်းကို ၁၈၀၇-ခု သြစတား လစ် စစ်ပွဲပြီးကတည်းက နီကိုလေသည် အတွေ့အကြုံ အရ သိရှိလာခဲ့ပြီး ဖြစ်လေသည်။ မသိရှိဘဲ နေနိုင်ပါမည် လော။ မိမိကိုယ်တိုင်ပင်လျှင် မိမိတွေ့ကြုံခဲ့ရသည့် အဖြစ် အပျက် များကို ထိုစဉ်က သာသာထိုးထိုးကလေး ပြောခဲ့ ဖူးသည် မဟုတ်လော။ ထို့ပြင်လည်း စစ်မြေပြင်၌ တွေ့ ကြုံရသော အဖြစ်အပျက်တို့သည် သူသူငါငါ တွေးထင်နိုင် သော အဖြစ်အပျက်၊ ပြောပြနိုင်သော အဖြစ်အပျက်ထက် ဘာမျှ ပို၍ ထူးထူးခြားခြား မရှိလှ ခြင်းကိုလည်း နီကိုလေ သည် အတွေ့အကြုံအရ သိခဲ့ပြီး မဟုတ်ပါလော။ ထို့ ကြောင့် နီ ကိုလေသည် ဇဒါဇင်စကီ၏စကားကို များစွာ စိတ်မဝင်စားခြင်း ဖြစ်လေသည်။ ထိုမျှမက မိမိ၏ကနဖျင်း ကလေးအတွင်းသို့ မဆန့်သာ မလူးသာ လာရောက် မိုးခိုကာ စကားပြော လျှင် တစ်ဖက်သား၏ မျက်နှာနား ကပ်၍ စကားပြောတတ်သော နှုတ်ခမ်းမွေးကြီး တကား ကားနှင့် ဇဒါဇင်စကီကိုလည်း နီကိုလေ မနှစ်သက်ချေ။ နီကိုလေသည် ဇဒါဇင်စ ကီကို တစ်ခွန်းမျှ စကားမဆိုဘဲ ကြည့်နေမိ၏။

“လက္ခဏာကတော့ ရန်သူက အပြင်းအထန် ဝိုင်း တိုက်နေတဲ့ တာရိုးပေါ်မှာ စစ်သားတွေ အထွေးထွေး ဖြစ်နေကြဟန်တူရဲ့။ တကယ်လို့ ဗိုလ်ချုပ်ကြီး ရေ့စကီ ဟာ သူ့သားနှစ်ယောက်ကို တစ်ဖက်တစ်ချက် ခြံရံစေပြီး ကိုယ်တိုင် တာရိုးပေါ်တက်လာတယ် ပဲ ထားဦး၊ သူ ဒီလို တက်လာတာကို မြင်တဲ့လူဟာ တစ်ဒါဇင်ထက် မပိုနိုင် ပါဘူး၊ ကျန်တဲ့

တပ်သားတွေက ဗိုလ်ချုပ်ကြီးဒေါ့စကီ ကိုယ်တိုင် တာရိုးပေါ် တက်လာတယ်လို့ ဘယ်လို လုပ် သိနိုင်မှာလဲ၊ ကဲ အားလုံးက သိတယ်ပဲ ဆိုပါစို့၊ တက် လာတော့ ဘာဖြစ်သလဲ၊ ဗိုလ်ချုပ်ကြီး ရဲ့ စကီဟာ အန္တရာယ်ကြုံလာတော့ သူ့သားနှစ်ယောက်ကို သူ အကာ အကွယ်ပေးတာ ဘာဆန်းသလဲ၊ ကိုယ့်သွေးကိုယ့်သား အန္တရာယ်ကြုံလာတဲ့အခါမှာ ဖြစ် ပေါ်လာတဲ့ အဖေတစ် ယောက်ရဲ့ ခံစားမှုကို မြင်ရရုံနဲ့ တပ်သားတွေမှာ ဘယ်လို များ စိတ်ဓာတ်တက်ကြွလာစေနိုင်မှာတဲ့လဲ၊ ငါတို့ အဖ နိုင်ငံတော်ကြီးရဲ့ ကံကြမ္မာဟာ ဆယ် လ်တာနော့ တာရိုး တိုက်ပွဲပေါ်မှာ တည်နေတာ မဟုတ်ပါဘူး၊ အဖနိုင်ငံတော် ကြီးရဲ့ ကံကြမ္မာကို ဆုံးဖြတ်နိုင်ခြင်းမရှိတဲ့ တိုက်ပွဲဖြစ်  နေမှတော့ ဘာဖြစ်လို့ အသက်ကို စွန့်လွှတ်ပြီး တိုက်နေ ဦးမှာလဲ၊ ဗိုလ်ချုပ်ကြီး ရေစကီဟာ ကိုယ့်သားတွေကို ဘာဖြစ်လို့ အသေခံနိုင်မလဲ၊ ငါသာဆိုရင် ငါ့ညီ ပီတာကို ဒီလိုတိုက်ပွဲမျိုးရှိရာ ခေါ်တောင်မလာဘူး။ ငါ့ညီမပြောနဲ့ လေ၊ ငါနဲ့ ဘာမှ သွေးသားတော်စပ်ခြင်း မရှိတဲ့ အီလျင် ကိုတောင် ဒီတိုက်ပွဲ မျိုးကို လွှတ်ပြီး အတိုက်မခိုင်းဘူး၊ ခပ်ဝေးဝေး လုံခြုံတဲ့နေရာကို အသွားခိုင်းမှာပဲ”

နီကိုလေသည် ဗဒါဗင်စကီ၏စကားကို နားထောင် ရင်း တွေးတောလျက်ရှိလေ သည်။ သို့ရာတွင် နီကိုလေ သည် အတွေ့ အကြုံရပြီးဖြစ်၍ ဤလိုကိစ္စများတွင် မိမိ စိတ် ထဲရှိသမျှကို ထုတ်ဖော်ပြောဆိုခြင်း မပြုတော့ဘဲ ရေလိုက်ငါးလိုက် နေတတ်ပေပြီ။ ဗ ဒါဗင်စကီ ပြောပြ သော အဖြစ်အပျက်သည် ရုရှားတပ်မတော်၏ ဂုဏ်သိက္ခာ ကို အမွှန်း တင်ခြင်းသာ ဖြစ်သည့်အတွက် ထိုအဖြစ်အပျက် မျိုးကို ယုံကြည်ဟန်ဆောင်ရမည်သာ ဖြစ်လေသည်။ နီ ကိုလေသည် ဤအတိုင်းလည်း ဟန်ဆောင်၍ နေလိုက်လေ သည်။

ဗိုလ်လေး အီလျင်သည် ဗဒါဗင်စကီ စကားများ လျက်ရှိခြင်းကို နီကိုလေ မနှစ် သက်မှန်း ရိပ်မိလိုက်သဖြင့်

”ဗိုလ်ကြီး၊ ကျွန်တော်တို့ ဒီအတိုင်းနေလို့ မဖြစ် တော့ဘူး ထင်တယ် ဗိုလ်ကြီး၊ တစ် ကိုယ်လုံး ရွှံ့ရွှဲစိုနေပြီ၊ ဒီထက်လုံတဲ့နေရာ သွားရှာချေဦးမယ်၊ မိုးကတော့ တော် တော်နဲ့ အဲ မှာမဟုတ်ဘူး”

အီင်ထွက်သွားပြီးနောက် ဗဒါဗင်စကီလည်း မြင်းစီး၍ ထွက်သွားလေသည်။

ငါးမိနစ်ကြာလျှင် အီလျင်သည် ရွှံ့ဗွက်ထဲတွင် တစွက်စွက် ဖြတ်ကာ ကနဖျင်းဆီသို့ ပြန်ပြေးလာလေ သည်။

“ဗိုလ်ကြီး မြန်မြန်လာပျို့၊ တစ်နေရာတော့ တွေ့ လာခဲ့ပြီ၊ ဒီနားကနေ ကိုက်နှစ်ရာ လောက် ဝေးတဲ့နေရာမှာ ထမင်းဆိုင်လေးတစ်ဆိုင် ရှိတယ်၊ ကျွန်တော့်တပ်က ဗိုလ်တွေ တောင် ရောက်နေကြပြီ၊ အဲဒီမှာ နည်းနည်း “အချမ်းပြေ´ကလေး လုပ်ရတာပေါ့ ဗိုလ်ကြီး ရ၊ ပြီးတော့ မေရီ ဟင်ဒရီကိုဗနာလဲ ရှိတယ် ဗိုလ်ကြီးရ”

မေရီ ဟင်ဒရီ ကိုဗနာမှာ ချောမောလှပသော ဂျာမန်မတစ်ယောက်ဖြစ်၍ တပ်ရင်း ဆရာဝန်၏ မိန်းမ  ဖြစ်၏။ တပ်ရင်းဆရာဝန်သည် ဟင်ဒရီကိုဗနာကို ပိုလန် ပြည်တွင် လက်ထပ်ခဲ့ခြင်း ဖြစ်လေသည်။ တပ်ရင်း ဆရာဝန်သည် ညားခါစဇနီးကို ခွဲမထား နိုင်၍လော၊ သို့ တည်းမဟုတ် စရိတ်စက ထောက်ပံ့နိုင်ခြင်း မရှိ၍လော၊ မည်သည့် အကြောင်းကြောင့် မသိ။ မိန်းမကို တပ်ချီတက် ရာသို့ ခေါ်လာခဲ့လေသည်။ ၎င်း၏မိန်းမ နှင့် ပတ်သက်လာ လျှင် ဆရာဝန်မှာ များစွာ မနာလိုတတ်သူဖြစ်ရာ မြင်း တပ်သား များသည် ဆရာဝန် မနာလိုဝန်တိုဖြစ်တတ်ပုံကို ရယ်စရာ သဘောထားလျက် ရှိကြလေ သည်။

နီကိုလေသည် မိုးကာအင်္ကျီကို ပခုံးပေါ်သို့ ခြုံလိုက် ပြီး တပ်လုလင် လာဗရုရှကာ ကို ပစ္စည်းများ သယ်ယူ ခဲ့ရန် အော်ဟစ်ပြောဆိုပြီးနောက် အီလျင်နှင့်အတူ ရွှံ့ ဗွက်ထဲ တွင် တစွက်စွက် လျှောက်၍လာခဲ့သည်။ မိုးမှာ အနည်းငယ်စဲသွားပြီဖြစ်သော်လည်း ကောင်းကင်တစ်ခု လုံးမှာ အုံ့မှိုင်းမည်းမှောင်လျက်ရှိဆဲပင် ဖြစ်၏။ ကောင်း ကင်ကြီး အက်ကွဲသွားသကဲ့သို့ ထင်ရလောက်အောင် လျှပ်စီးများကလည်း တဝင်းဝင်းလက်လျက် ရှိကြ၏။

“ဖြူ ဗိုလ်ကြီး၊ ဘယ်ကလဲငါ့ “

”ဒီကဟေ့ ဒီက၊ လျှပ်စီးတွေ သိပ်လက်တယ်ပေါ့”

ငင်းတို့နှစ်ဦးသည် မိုးမှောင်ကြီးအောက်တွင် တစ် ယောက်တစ်ယောက် လှမ်း၍ အော်နေကြလေသည်။

# အခန်း ၁၃

ထမင်းဆိုင်ထဲ၌ တပ်ဗိုလ်ငါးယောက်ကို တွေ့ရ၏။ ထမင်းဆိုင်ရှေ့တွင်မူ မိုးကာများဖုံးထားသော ဆရာဝန်၏ ဝန်တင်လှည်းကို တွေ့ရသည်။ နုနယ်ချောမောသော ဂျာမန်မတစ်ဦးဖြစ်သည့် မေရီဟင်နရီကိုဗနာသည် ညဝတ် အင်္ကျီကိုဝတ်၍ ဦးထိပ်ကလေး တစ်လုံးကို ဆောင်း ကာ ဆိုင်ထောင့်ရှိ ခပ်ကျယ်ကျယ် ခုံကြီးတစ်လုံးပေါ်တွင် ထိုင်လျက်ရှိ၏။ ငင်းယောကျ်ား ဆရာဝန်မှာ နောက်တွင် အိပ်ပျော်လျက်ရှိလေသည်။ ဆိုင်ထဲသို့ နီကိုလေနှင့် အီလျင်တို့ ဝင်လာကြသည်တွင် အားလုံးက ဆူညံစွာ အော်ဟစ် ဆီးကြိုကြလေသည်။

“အလို၊ ကံကောင်းတာပဲဗျို့” နီကိုလေက ရယ် ၍ ပြောလိုက်၏။

”ါ ဗိုလ်ကြီး၊ ထိုင်လေဗျာ၊ ဘာဖြစ်လို့ မတ်တတ် ကြီး ရပ်နေရတာလဲ”

“ဟာ ခင်ဗျားတို့ တစ်ကိုယ်လုံး ရွှဲရွှဲစိုနေတာပဲ၊ ကျုပ်တို့နေရာလေးတော့ စိုကုန်တော့မှာပါပဲ”

“ဒီပြင့်နေရာ ပြောချင်စိုပစေဗျာ၊ ကျုပ်တို့ ဆရာ ကတော်ရဲ့ အဝတ်ကိုတော့ မစိုပစေနဲ့” ဤသို့ တစ်ယောက် ( တစ်ပေါက် အော်ဟစ်ပြောဆိုလျက် ရှိကြလေသည်။

နီကိုလေနှင့် အီလျင်သည် ဤနေရာတွင် အဝတ် လဲက ဆရာဝန်ကတော် အနေခက်မည်စိုးသည့်အတွက် အဝတ်လဲရန် ချောင်ကောင်းကောင်းကို ရှာဖွေနေကြသည်။ နောက်ဆုံး၌ ပုဏ္ဏားကွယ်ကလေးတစ်ခုကို တွေ့သဖြင့် အဝတ်လဲရန် ထိုချောင်ကလေးထဲသို့ ဝင်လာခဲ့ရာ ထိုနေရာ ၌ တပ်ဗိုလ်သုံးယောက်သည် သေတ္တာလွတ်တစ်လုံးပေါ် တွင် ဖယောင်းတိုင်တစ်တိုင် ထွန်း၍ ဖဲရိုက်နေကြသည်ကို တွေ့ရ၏။ တပ်ဗိုလ်သုံးယောက်မှာ ငင်းတို့နေရာကို မည်သည့်နည်းနှင့်မျှ ဖယ်ပေးမည့်ပုံ မပေါ်ကြချေ။ ဤ တွင်

ဆရာဝန်ကတော်က နီကိုလေတို့ အဝတ်လဲရန် ( အတွက် အကာအကွယ်အဖြစ် အသုံးပြုရန် ၎င်း၏ဂါဝန် တစ်ထည်ကို လှမ်းပေးသည်။ နီကိုလေနှင့် အီလျင်သည် မိမိတို့ ပစ္စည်းများကို သယ်လာသော လာဗရုရှကာ၏ အကူအညီဖြင့် ဆရာဝန်ကတော်၏ ဂါဝန်ကို အကွယ် ( အကာပြုလုပ်ကာ အဝတ်အစားလဲကြရသည်။

ပျက်စီးနေပြီဖြစ်သော အုတ်မီးလင်းဖိုထဲတွင် မီးဖို ကြသည်။ ထို့နောက် ပျဉ်ချပ်တစ်ချပ်ကို တွေ့သဖြင့် ထို ပျဉ်ချပ်ကို မြင်းကုန်းနှီးနှစ်ခု ထိပ်တွင်တင်ကာ အပေါ်က မြင်းဝတ်စုံဖြင့် ခင်းလိုက်သည်။ ထို့နောက် လက်ဖက်ရည် ကရားတစ်လုံး၊ စားစရာထည့်သည့် ဘူးကလေးတစ်ဘူးနှင့် ရမ်ပုလင်းတစ်ဝက်ကို တင်ထားလိုက်ကာ ဆရာဝန် ကတော်အား မိမိတို့ဝိုင်းတွင် လာရောက်သုံးဆောင်ရန် ဖိတ်ကြားပြီး ဝိုင်းထိုင်ကြသည်။ တစ်ယောက်က ဆရာဝန် ကတော်၏ ဖြူဖွေးနုနယ်သော လက်များကို သုတ်ရန် အတွက် ဖြူဖွေးလျက်ရှိသော လက်ကိုင်ပဝါတစ်ထည်ကို ထုတ်ပေးသည်။ နောက်တစ်ယောက်က ဆရာဝန်ကတော် ၏ ခြေထောက်ကလေးများ ထွေးရန်အတွက် မြေကြီး ပေါ်တွင် မိမိအင်္ကျီကို ချွတ်၍ ခင်းပေးသည်။ အခြား တစ်ယောက်က ဆရာဝန်ကတော်ကို မိုးပေါက်မမှန်စေရန် မိမိအကျီကိုချွတ်၍ ပြတင်းပေါက်တွင် ကာပေးသည်။ အခြားတစ်ယောက်ကမူ ဆရာဝန်နိုးမည်စိုးသဖြင့် ဆရာဝန် ၏ မျက်နှာပေါ်မှ ယင်များကို ခြောက်ပေးလျက်ရှိသည်။

“နေပစေ ဗိုလ်ကြီး၊ အိပ်ပါစေ၊ ညအိပ်ရေးပျက်ရင် သူတွေ့တဲ့နေရာမှာ ဒီလိုပဲ ဝင်အိပ်တာပဲ” ဆရာဝန်ကတော် က မလုံမလဲဖြစ်ရာက ကြည်နူးစွာ ပြုံး၍ ပြောလိုက်၏။

“ကိစ္စမရှိပါဘူး ဆရာကတော်၊ ကျွန်တော်တို့ ဆရာဝန်ကို ကျွန်တော်တို့ လုပ်ပေးရမှာပေါ့။ ဒီတော့မှ ကျွန်တော် ဒဏ်ရာရလို့ ခြေတို့လက်တို့ ဖြတ်စရာပေါ်လာ ရင် သက်သက်ညှာညှာ လုပ်ပေးမှာခင်ဗျ” ယင်ခြောက် ပေးနေသော တပ်ဗိုလ်က ပြောလိုက်၏။

အားလုံးပေါင်းမှ ခွက်သုံးလုံးသာ ရှိ၏။ ရေမှာ ရွှံ့တို့ဖြင့် နောက်ကျိလျက်ရှိသဖြင့် လက်ဖက်ရည် ဖျော် လိုက်သည့်အခါတွင် ကျဲသလော၊ ပျစ်သလောဆိုသည် ကိုပင် မပြောနိုင်ချေ။ လက်ဖက်ရည်ကရားမှာ အားလုံးမှ ခြောက်ခွက်သာ ဝင်၏။ ဆရာဝန်ကတော်

သည် နီရဲသော လက်သည်းကလေးများရှိသည့် ဖြူဖွေးနုနယ်သော လက် ကလေးများဖြင့် ခွက်ကိုင်ကာ ဝိုင်းထိုင်လျက်ရှိသော တပ်ဗိုလ်များကို ရာထူးကြီးငယ်အလိုက် ခွက်လှည့် ငှဲ၍ ပေးလျက်ရှိသည်။ သို့ရာတွင် တပ်ဗိုလ်များသည် ဤသို့ ခွက်မရှိဘဲ တစ်ယောက်တစ် လှည့်စီ သောက်နေရခြင်းကို ပင် ကျေနပ်လျက် ရှိကြသည်။ တပ်ဗိုလ်များအားလုံးသည် ဆရာဝန်ကတော်နှင့် ယခုကဲ့သို့ နေရခြင်းကို ကြည်နူးလျက် ရှိကြလေသည်။ အတန်ကြာ သော် ပုဏ္ဏားကွယ်ကလေး နောက်တွင် ဖဲကစားနေသည့် တပ်ဗိုလ်သုံးယောက်လည်း ထ လာကာ လက်ဖက်ရည်ဝိုင်းသို့ လာထိုင်၍ ဆရာဝန် ကတော်အား “ရှိသ့ဲသဲ့” လုပ်ရခြင်း အတွက် အခြားတပ် ဗိုလ်များကဲ့သို့ မြူးလျက်ရှိလေသည်။ ဆရာဝန်ကတော် ကိုယ်တိုင် မှာလည်း ယဉ်ကျေးသိမ်မွေ့၍ အထက်တန်း ကျသည့် တပ်ဗိုလ်များ ဝိုင်းဝိုင်းလည် အရေး ပေးခြင်း ခံရသည့်အတွက် ကျေနပ်ကာ တစ်မျက်နှာလုံး ဝင်းထိန် လျက်ရှိ၏။ တစ်ချက် တစ်ချက်၌လည်း ဆရာဝန် ကတော်သည် မိမိ၏ ကြည်နူးဝမ်းသာခြင်းကို ဣန္ဒြေဆယ် ၍ ဖုံးကွယ်လိုက်လျက်၊ အိပ်ပျော်ရာမှ လူးလွန့်လားတတ် သည့် ယောကျာ်းဖြစ်သူ ဆရာဝန် ကို စိတ်ပျက်စိုးရိမ်သော မျက်နှာထားဖြင့် နောက်သို့ မကြာခဏ လှည့်ကြည့်နေ တတ်သည်။

ငင်းတို့အားလုံး၌ ဇွန်းတစ်ချောင်းသာရှိ၍ လက် ဖက်ရည်ကို မွှေသည့်အခါတွင် တစ်ယောက်တစ်လှည့်စီ မွှေရသည်။ သို့ရာတွင် သကြားမှာ တော်တော်နှင့် အရည် မ ပျော်နိုင်သဖြင့် တစ်ခွက်တစ်ခွက်ကို အကြာကြီး မွှေရ၏။ ထို့ကြောင့် လက်ဖက်ရည်ခွက် များကို ဆရာဝန်ကတော်က တစ်ခွက်စီ အလှည့်ကျ မွှေပေးစေရန် စီစဉ်ရလေသည်။ နီကို လေမှာ မိမိအတွက် လက်ဖက်ရည်ခွက် ရပြီးဖြစ်၍ လက်ဖက်ရည်ခွက်ထဲသို့ ရမ်အရက် လောင်းထည့်လိုက်ပြီး “ဇွန်းကိုင်” ဆရာဝန်ကတော်ကို အမွှေခိုင်းရသည်။

“အို- နေဦးလေ၊ ဗိုလ်ကြီးခွက်ထဲမှာ သကြားမှ မထည့်ရသေးဘဲ” ဆရာဝန်ကတော် က ပြုံး၍ ခပ်နွဲ့နွဲ့ ပြောလိုက်၏။ ဆရာဝန်ကတော်၏ စိတ်၌ဖြစ်သော ကြည်နူးခြင်းမှာ ကား ဆိုဖွယ်မရှိတော့ချေ။

“ကျွန်တော် သကြားမလိုချင်ပါဘူး ဆရာကတော်၊ ဆရာကတော်ရဲ့ ဟောဒီလက်ကလေးနဲ့ မွှေပေးရင် ကျေနပ် လှပါပြီ”

ဆရာဝန်ကတော်သည် နီကိုလေပြောသည့်အတိုင်း မွှေပေးရန် စောစောက ချထားလိုက်သော ဇွန်းကို လိုက် ရှာနေသည်။

“ဆရာကတော်ရဲ့ လက်ချောင်းကလေးနဲ့ မွှေပေး ပါလား ဆရာကတော်၊ အဲဒါက ပို ပြီး အရသာရှိပါတယ်”

“ပူတယ် ဗိုလ်ကြီးရဲ့”ဆရာဝန်ကတော်က ကျေနပ် ဝမ်းမြောက်ခြင်းကြောင့် မျက်နှာကလေး နီရဲလျက်ရှိရင်း ပြောလိုက်သည်။

ဗိုလ်လေး အီလျင်က ခွက်ထဲတွင် ရမ်အရက်ကို ရေရော၍ ယူလာခဲ့ပြီး ဆရာကတော်အား လက်နှင့် မွှေ ပေးရန်ပြော၏။

“ကျွန်တော့်ခွက်က မပူဘူး ဆရာကတော်၊ ဟောဒီ ခွက်ထဲကို ဆရာကတော်ရဲ့ လက်ကလေးနဲ့ မွှေပေးမယ် ဆိုရင် ကျွန်တော် တစ်ခါတည်း အကုန်မော့ချလိုက်မယ်”

လက်ဖက်ရည်သောက်ပြီးလျှင် နီကိုလေသည် ဖဲ ထုပ်တစ်ထုပ်ကို ယူလာကာ ဆရာဝန်ကတော်နှင့် “ကံစမ်း ဖဲ” ကစားကြရန် အကြံပေးလေသည်။ ထိုကစားနည်းမှာ “ကင်း” ခေါ် ကုလားဖဲ စမ်းသည့်နည်းဖြစ်၍ “ကင်း’ ဆွဲ ရသူက အနိုင်ဆုံးဖြစ်၏။ နီကိုလေ၏ အကြံပေးချက်အရ  လောင်းကြေးမှာ “ကင်း”ရသူက ဆရာကတော်၏လက်ကို နမ်းခွင့်ရပြီး “ဘူ”ကျသူက ဆရာဝန် နိုးလာသည့်အခါတွင် ရေနွေးအိုးတည်၍ လက်ဖက်ရည် ဖျော်ပေးရမည်ဖြစ်လေ ရာ ဤလောင်းကြေးကို အားလုံးက သဘောတူကြ၏။

“ဒါပေမယ့် ဆရာကတော်ကိုယ်တိုင်က “ကင်း’ဆွဲ လို့ရရင်ကောဗျာ”

အီလျင်က မေးသည်။

"ဆရာကတော်က "ကင်း" ရရင်တော့ "ကွင်း"ဖြစ် သွားတာပေါ့ဗျ၊ သူခိုင်းတာ အကုန်လုပ်ပေးရမယ်"

ဤသို့ဖြင့် "ကင်း" ခေါ် "ကံစမ်းမဲ" စကစား၍ မကြာမီမှာပင် ဆရာဝန်သည် ဆံပင်ဖရိုဖရဲနှင့် ဆရာဝန် ကတော်၏နောက်မှ ထလာ၏။ ဆရာဝန်သည် ခပ်စော စောကပင် နိုးလျက်ရှိကာ ၎င်းတို့ပြောဆိုနေကြသော စကားများကို နားထောင်လျက် ရှိ၏။ ထူးထူးခြားခြား ရယ်စရာမရှိဘဲ "ဟားတိုက်"လျက် ရှိခြင်းကိုလည်း မကျေ မနပ်ဖြစ်လျက်ရှိလေသည်။ အိပ်ရာမှထလာသောအခါ၌ ကား ဆရာဝန်၏ မျက်နှာမှာ သုန်မှုန်လျက်ရှိလေပြီ။ ဆရာဝန်သည် တပ်ဗိုလ်များကို နှုတ်ဆက်ခြင်းမပြုဘဲ တဗျင်းဗျင်း မြည်အောင် ကုတ်လိုက်ပြီးနောက် အပြင်သို့ ထွက်လိုသဖြင့် ကျော်သွားခွင့်တောင်းလိုက်သည်။ ဆရာဝန် အပြင်သို့ ထွက်သွားသည်နှင့် တစ်ပြိုင်နက် တပ်ဗိုလ်များ အားလုံးသည် ဝါးခနဲ ရယ်လိုက်ကြလေရာ ဆရာဝန် ကတော်မှာ မျက်နှာနီမြန်းကာ မျက်ရည်ကလေးများ လည်လာလေသည်။ ထိုအခါကျမှ ဆရာဝန်ကတော်မှာ ၎င်းတို့အဖို့ ပို၍ချစ်စရာကောင်းလာသည်ဟု ထင်မှတ်ရ လေသည်။ အပြင်မှ ပြန်လာသောအခါ ဆရာဝန်သည် ဇနီးသည်ဘက်သို့ လှည့်၍ (ထိုအချိန်၌ ရွှင်လန်းကြည်နူး သော အပြုံးသည် ဆရာဝန်ကတော်၏ မျက်နှာပေါ်မှ ပျောက်ကွယ်သွားသော မိမိ၏စီရင်ချက်ကို စောင့်ဆိုင်း လျက်ရှိသည့်ပမာ ထိတ်လန့်သော အမူအရာ ဝင်ရောက်ခဲ့ လေပြီ။) အပြင်တွင် မိုးစဲပြီဖြစ်ကြောင်း၊ လှည်းပေါ်တွင် သွားနေသင့်ကြောင်းဖြင့် ပြောဆိုခြင်း ပြုလေသည်။

"နေပါစေလေ ဆရာ၊ ကျွန်တော့်တပ်သား နှစ် ယောက်ကို အစောင့်ချထားလိုက်မယ်၊ မကောင်းဘူးလား" နီကိုလေက ပြောလိုက်၏။

"ကျွန်တော်ကိုယ်တိုင် သွားစောင့်ဆိုရင်လဲ စောင့်  မယ်လေ" အီလျင်က ပြောလိုက်သည်။

"နေပါစေ ခင်ဗျားတို့က အိပ်ရေးဝပြီးလို့ ကိစ္စ မရှိပေမယ့် ကျွန်တော်က နှစ်ည လုံးလုံး တစ်ရေးမှ မအိပ် ရသေးဘူးဗျ" ဆရာဝန်သည် ဤသို့ပြောကာ သုန်မှုန်သော မျက်နှာထားဖြင့် ဆရာဝန်ကတော်အနီးတွင် ထိုင်ချရင်း ဖဲဝိုင်းအပြီးကို စောင့်လျက်ရှိ၏။

ဆရာဝန်က သုန်မှုန်သော မျက်နှာထားဖြင့် ၎င်း၏ မိန်းမကို မျက်စောင်းထိုး၍ ကြည့်နေခြင်းကို မြင်ရသော အခါတွင် စစ်ဗိုလ်များမှာ ပို၍ပင် မြူးလာကြ၏။ ၊ တစ်ယောက် ကမူ ချုပ်တည်းခြင်းငှာ မတတ်နိုင်တော့ဘဲ အားရပါးရ ရယ်လိုက်မိလေရာ နောက်မှတစ်ခုခုကို ယိုးမယ် ဖွဲ့၍ ရယ်ခြင်းဖြစ်ဟန်မျိုး ဆောင်လိုက်ရသည်။ ဆရာဝန်က ၎င်း၏ မိန်းမကိုခေါ်၍ ထမင်းဆိုင်ရှေ့ရှိ လှည်းပေါ်တွင် သွား အိပ်နေတော့မှ တပ်ဗိုလ်များသည် စိုစွတ်လျက်ရှိသော ဝတ်ရုံအင်္ကျီကြီးများကို ခြုံ၍ လှဲနေကြ သည်။ သို့ရာတွင် တော်တော်နှင့် အိပ်မပျော်နိုင်ကြဘဲ ဆရာဝန်၏ "အိုးတိုး ( အမ်းတမ်း" ဖြစ်လျက်ရှိသော အမူအရာ၊ ဆရာဝန်ကတော် ၏ "ပြီတီတီ'ရှိလှသော မျက်နှာပေးအကြောင်းကို ပြောဆိုလျက်ရှိကြ၍ အချို့ကလည်း အပြင်ဘက်သို့ ထွက်ကြည့် ကာ ဆရာဝန် လင်မယားတို့၏ လှည်းပေါ်တွင် တွေ့မြင် ရသော အခြင်းအရာတို့ကို အော်ဟစ်ပြောဆိုလျက် ရှိကြ သည်။ နီကိုလေသည် စောင်ကို ခေါင်းမြီးခြုံလျက် အိပ် ပျော်ရန် ကြိုးစားကြည့်၏။ သို့ရာတွင် ပျော်မည်ပြုလိုက် တိုင်း စကားပြောသံ၊ တဝါးဝါး ရယ်မောသံများကြောင့် အိပ်၍မရတော့ချေ။

# အခန်း ၁၄

အချိန်မှာ နံနက် သုံးချက်တီးပြီဖြစ်သော်လည်း မည်သူမျှ အိပ်မပျော် ကြသေးချေ။ ဤအတောအတွင်း ဩစထရိနာ ' အမည်ရှိ မြို့ကလေးတစ်မြို့သို့ တပ်ပြောင်းရမည် ဖြစ်ကြောင်း အမိန့်စာရွက်နှင့်အတူ တပ်ထောက် ရောက်လာ လေသည်။

တပ်ဗိုလ်များသည် စကားပြောရင်း နောက်ပြောင် ရယ်မောရင်းနှင့် အဆင်သင့်ပြင်ကြကာ ရွှံ့နှစ်များကြောင့် နောက်ကျိုလျက်ရှိသော ရေဖြင့် လက်ဖက်ရည် တည်ကြ ပြန်သည်။ နီကိုလေသည် ရေနွေးအိုးဆူအောင် မစောင့် တော့ဘဲ ၎င်း၏မြင်းတပ်ခွဲရှိရာသို့ထွက်လာခဲ့၏။ အရှေ့ ဘက် ကောင်းကင်မှ အလင်းရောင်ပျို့စ ပြုလာလေပြီ။ မိုးတိတ် စပြုပြီဖြစ်လျက် တိမ်တိုက်များသည်လည်း တ ဖြည်းဖြည်း ကွဲစပြုလာပြီ ဖြစ်လေသည်။ စိုစွတ်လျက် ရှိသော အဝတ်များကို ဝတ်ထားကြသဖြင့် အားလုံး ခိုက် ခိုက်တုန်လျက် ရှိ

ကြ၏။ အရုဏ်တက်စ၌ ထမင်းဆိုင် ကလေးထဲမှ ထွက်လာခဲ့ကြသော နီကိုလေနှင့် အီလျင် တို့သည် ထမင်းဆိုင်ရှေ့က ဆရာဝန်လင်မယား၏ လှည်း နားသို့ ရောက်သောအခါ၌ မိုးရေတို့ဖြင့် ပြောင်လက်လျက် ရှိသော အဖျားကော့ လှည်းပေါင်းမိုးထဲသို့ ငုံ့၍ကြည့်လိုက် ကြရာ ဆရာဝန်၏ခြေထောက်နှစ်ချောင်းသည် လှည်း နောက်ပြီးမှ အပြင်သို့ ထိုးထွက်လျက်ရှိကြပြီး လှည်းကြမ်း အလယ်၌ ပြားလျက်ရှိသော ဆရာဝန်ကတော်၏ ဦးထုပ် ပြားကလေးကို တွေ့ရ၏။ ဆရာဝန်ကတော်၏ အသက် ပြင်းပြင်းရှူသံကိုလည်း ကြားရလေသည်။ •

”ငနဲမက အတော်တော့ ဖြောင့်တယ်ကွ” နီကိုလေ က နောက်ကလိုက်လာသော အီလျင်ကို လှမ်းပြောလိုက် ၏။

“ဟုတ်တယ် ဗိုလ်ကြီး၊ တော်တော်နိပ်တယ်” အီလျင်က ဆယ့်ခြောက်နှစ်သားတို့၏ စိတ်ဝင်စားခြင်း အပြည့်ဖြင့် ပြောလိုက်သည်။

နာရီဝက်ခန့်ကြာသောအခါ၌ကား နီကိုလေ၏ မြင်းတပ်ခွဲသည် ပေတစ်ရာလမ်းပေါ်၌ တန်းစီပြီးသား ဖြစ်လျက်ရှိပေပြီ။ ထို့နောက် မြင်းပေါ်သို့တက်ရန် အမိန့် ပေးသံကြားရကာ တပ်သားများသည် မိမိတို့ မြင်းများပေါ် သို့ တက်လိုက်ကြသည်။ နီကိုလေသည် တပ်ဦးသို့ မြင်း ကို စီးလာခဲ့ပြီးနောက် ချီတက် အမိန့်ပေးလိုက်သည်။ မြင်းတပ်သားများ၏ စကားသံများသည် တိတ်သွားကြကာ ခေါးလွယ်များ ရိုက်ခတ်သံပေါ်ထွက်လာလျက် ရွှံ့ဗွက်ထဲ တွင် မြင်းများ တစွက်စွက် ဖြတ်လာသံများကို ကြားရ၏။ မြင်းတပ်သားများသည် လေးယောက်တစ်တွဲစီတန်းလျက် သစ်ပင်များ တစ်ဖက်တစ်ချက် ပေါက်လျက်ရှိသော ပေ တစ်ရာ လမ်းမကြီးအတိုင်း ချီတက်လာခဲ့ကြလေသည်။ ၎င်းတို့ရှေ့၌ကား ခြေလျင်တပ်နှင့် အမြောက်တပ်တစ်တပ် ချီတက်လျက်ရှိလေသည်။ တစ်စစီဖြစ်လျက်ရှိသော တိမ်တိုက်များသည် အရုဏ်ခြည် ပက်ဖျန်းလိုက်သောအခါ၌ မရမ်းစွေ့ရောင်မှ ပန်းပျော့သွေးသို့ ကူးလာကြကာ လေသယ်ဆောင်ရာသို့ လွင့်လာကြ၏။ တဖြည်းဖြည်း လင်းသည်ထက် လင်းလာ လေပြီ။ မနေ့ညက ရွာသွန်းသော မိုးရေကြောင့် စိုစွတ် လျက်ရှိသော တောလမ်းဘေးတွင် ပေါက်လေ့ရှိသည့် မြက်ပင်ကလေးများကို လည်းကောင်း၊

လေတိုက်တိုင်း လေဝှေ့ရာဘက်သို့ ရေစက်များကို တဖြန်းဖြန်း ခါချလျက် ရှိသော လမ်းဘေးတစ်ဖက်တစ်ချက်ရှိ သစ်ပင်များမှ ငိုက်ကျလျက်ရှိသည့် သစ်ကိုင်းများကို လည်းကောင်း၊ တပ် သားများ၏ မျက်နှာများကိုလည်းကောင်း ထင်ရှားစွာ မြင်ရလေပြီ။ နီကိုလေသည် လမ်းဘေး သစ်ပင်တန်းများ အနီးမှ ကပ်၍ မြင်းကို စီးလာခဲ့၏။ အီလျင်သည် ထုံးစံ အတိုင်း နီကိုလေနောက်မှ ကပ်လျက် လိုက်ပါလာလေ သည်။

စစ်ချီတက်လေ့ရှိသည့်အခါများ၌ နီကိုလေသည် တပ်ကမြင်းကို မစီးဘဲ မိမိ၏စိတ်ကြိုက်ဖြစ်သော ကော့ ဆက်မြင်းကြီးကို စီးလေ့ရှိ၏။ မြင်းကောင်းစီးသူတစ်ဦးနှင့် တောလိုက်သမားတစ်ဦး ဖြစ်သည့်အလျောက် နီကိုလေ သည် အမွေးအမှင်ကောင်းကောင်း ဒေါက်ကောင်းကောင်း နှင့် စိတ်ဆတ်သော မြင်းဒိုးနက်ကြီးတစ်ကောင်ကို မကြာ မီက ထပ်ယူခဲ့၏။ မြင်းကြီးမှာ စိုင်လျော်တုတ်ကျယ်ကြီး ဖြစ်၍ အမြီးဖားဖား၊ လည်ဆံကောင်းကောင်း ဖြစ်သည်။ ထိုမြင်းကြီးကို တကယ်စီးပြီဆိုလျှင်ကား မည်သည့်မြင်းမျှ လိုက်၍ မမီတော့ချေ။ နီကိုလေသည် ဤမြင်းစိုင်လျော် ကြီး စီးရခြင်းကို များစွာနှစ်သက်လျက်ရှိ၏။ ဤသို့ဖြင့် နီကိုလေသည် မိမိ၏ မြင်းကြီးအကြောင်းကို လည်းကောင်း၊ နံနက်ခင်း၏ သာယာလှပုံကိုလည်းကောင်း၊ ဆရာဝန် ကတော်၏ အကြောင်းကိုလည်းကောင်း တွေးတောလျက် စီးလာလေသည်။ မကြာမီ ရင်ဆိုင်ရတော့မည့် အန္တရာယ် ကိုကား အနည်းငယ်မျှ မတွေးမိချေ။

ယခင်တုန်းကမူ နီကိုလေသည် တိုက်ပွဲသို့ သွား ရတော့မည်ဆိုလျှင် ကြောက်လန့်စိုးရိမ်လျက် ရှိတတ်၏။ ယခုမူကား နည်းနည်းကလေးမျှ မဖြုန်တော့ပြီ။ ယခုကဲ့သို့ မဖြုန်ခြင်းမှာ ရန်သူကျည်ဆန်များ မိုးသီးမိုးပေါက်ပမာ ပစ်ခတ်နေခြင်းကို ကြုံတွေ့ဖန်များ၍ နေသားကျသွားသော  ကြောင့်ကား မဟုတ်။ (အန္တရာယ်တစ်ခုကို ရင်ဆိုင်ရခြင်း၌ နေသားကျသည်ဟူ၍ မရှိနိုင်ပါ။) အန္တ ရာယ်ဆုံတွေ့လာ သည့်အခါ၌ မိမိ၏စိတ်အာရုံကို မည်သို့မည်ပုံ ထိန်းချုပ် ရမည်ကို နားလည်လာသောကြောင့်သာ ဖြစ်လေသည်။ ယခုအချိန်၌ နီကိုလေသည် တိုက်ပွဲသို့ထွက်ရတိုင်း တွေ့ ကြုံရလတ္တံ့သော အန္တရာယ်ကို တွေးတောမနေတော့ဘဲ အခြားစိတ်ဝင်စားဖွယ်ရာ အရာများကို နှလုံးသွင်းတတ် လျက် ရှိလေပြီ။ တပ်မတော်ထဲတွင် ဝင်ရောက် အမှုထမ်း စကဆိုလျှင် တိုက်ပွဲသို့ ထွက်ရတိုင်း

ဤသို့ အာရုံ ပြောင်းသွားအောင် မကြာခဏ ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့သဖြင့် သူရဲဘောကြောင်လှချည့်ဟု ကိုယ့် ကိုယ်ကို အပြစ်တင်ခဲ့မိသည်။ သို့ရာတွင် အချိန်ကြာ ညောင်းလာ သောအခါ၌ကား အလိုလို အာရုံပြောင်း တတ်လာခဲ့လေပြီ။ နီကိုလေသည် ပေတစ်ရာလမ်းဘေးတွင် ပေါက်နေသည့် သစ်ပင်များ အောက်မှ မြင်းကို စီးလာခဲ့ရင်း တစ်ခါတစ်ခါ၌ လက်လှမ်းမီသည်အထိ ငိုက်ကျလျက် ရှိသော သစ်ကိုင်းများမှ သစ်ရွက်များကို လှမ်းချွေလိုက် သည်။ တစ်ခါတစ်ရံ၌ မိမိမြင်းကြီးများ၏နံပါးကို ခြေထောက်ဖြင့် တို့လိုက်သည်။ သို့မဟုတ်လျှင်လည်း မိမိသောက်လျက်ရှိသည့် ဆေးတံကို နောက်တွင် လိုက် လာသော တပ်သားထံ လှည့်မကြည့်ဘဲ လှမ်းပေးလိုက် သည်။ ဤသို့ဖြင့် နီကိုလေမှာ စစ်မြေပြင်သို့ ထွက်ခြင်း မဟုတ်ဘဲ မြင်းစီးထွက်လာသူ တစ်ယောက်ကဲ့သို့ အပူအပင်ကင်းမဲ့၍ အေးအေးဆေးဆေး လိုက်ပါလာခဲ့လေ သည်။ အီလျင်သည်လည်း နီကို လေ၏ဘေးမှ စီး၍လိုက်ပါ လာလေသည်။ နီကိုလေသည် စိတ်တုန်လှုပ်ချောက်ချား စွာဖြင့် စကားကို တသွင်သွင်ပြောလျက် လိုက်ပါလာသော အီလျင်၏ အက်မရသောမျက်နှာကို သနားသလို လှမ်း ကြည့်လိုက်၏။ အလံကိုင် ဗိုလ်ကလေး အီလျင်သည် အလွန်အမင်း ကြောက်လန့်တုန်လှုပ် လျက်ရှိကြောင်းကို နီကိုလေသည် အတွေ့အကြုံအရ သိပြီးဖြစ်၏။ အီလျင် အား အချိန်က ကုစားပေးလိမ့်မည် ဆိုသည့်အချက်ကို လည်း နီကိုလေ သိပြီးဖြစ်လေသည်။

နေဝန်းသည် တိမ်တိုက်များကြားမှ ထွက်ပြူလာ လေသည်။ မုန်တိုင်းကျရောက်ပြီး နောက်၌ လေသည် နွေရာသီ နံနက်ခင်း၏ လှပခြင်းကို ဖျက်ဆီးခြင်းငှာ မဝံ့တော့သည့်အလား ငြိမ်သက်လျက်ရှိ၏။ သစ်ရွက်များ ပေါ်မှ ရေစက်ရေပေါက်ကလေးများသည် အောက်သို့ ကျမြဲကျလျက်ရှိ သော်လည်း ခပ်စောစောကကဲ့သို့ လေဟု့ ရာ လွင့်ပါခြင်းမရှိတော့ဘဲ အောက်တည့်တည့်သို့ ကျလျက် ရှိလေသည်။ နေဝန်းတိမ်ကြားထဲမှ ထွက်ပေါ်လာပြီးနောက် တိမ်တိုက် တစ်ခုထဲသို့ ဝင်သွားပြန်လေသည်။ ခဏကြာသောအခါ၌ကား တိမ်စွန်းမှ ထွက်ပေါ်လာပြန်လေရာ နေရောင်သည် ပို၍ တောက်ပလျက်ရှိသည်ဟု ထင်ရ လေသည်။ လောကဓာတ်တစ်ခုလုံးသည်လည်း ထွန်းလင်းတောက်ပလျက် ရှိ၏။ ဤအခိုက် ထွန်းလင်းတောက်ပ လျက်ရှိသော လောကကြီးကို

ကောင်းချီးပေးသကဲ့သို့ တပ်ဦးဆီမှ သေနတ်သံများသည် တရစပ် ပေါ်ထွက် လာလေသည်။

နီကိုလေသည် သေနတ်သံ၏ အကွာအဝေးကို စဉ်းစားလျက်ရှိသည့် အတောအတွင်း မြို့စားကြီး ဩစတာ မန်တော်လ်စတွိုင်း၏ တပ်ရေးသည် ဒုန်းစိုင်း၍ ရောက်လာ ကာ မြင်းတပ်များ ရှေ့သို့ အပြင်းချီခဲ့ရမည် ဖြစ်ကြောင်း ဖြင့် အမိန့်ပေးသွားလေသည်။

နီကိုလေတို့ မြင်းတပ်သည် ရှေ့က ခြေလျင်တပ်နှင့် အမြောက်တပ်ကို ပန်း၍ တက်လာခဲ့၏။ ခြေလျင်တပ်နှင့် အမြောက်တပ်များသည်လည်း တရကြမ်းချီတက်လျက် ရှိကြလေသည်။ နီကိုလေတို့ မြင်းတပ်သည် ရှေ့က တပ် များကို ကျော်တက်ခဲ့ပြီးနောက် တောင်ကုန်းကလေးတစ်ခု အတိုင်း ဆင်းလာခဲ့ကာ တိတ်ဆိတ်ခြောက်ကပ်လျက်ရှိ သောရွာကလေးတစ်ရွာထဲသို့ ဖြတ်၍စီးလာခဲ့လေသည်။ ထိုအချိန်၌ မြင်းစီးတပ်သားများ အားလုံး၏ မျက်နှာမှာ နီရဲလျက်ရှိကာ မြင်းများမှာလည်း ပါးစပ်မှ အမြှုပ်တစီစီ ထွက်လျက်ရှိပေပြီ။

“ရပ်” တပ်ရင်းမှူး၏ အမိန့်သံသည် တပ်ဦးဆီမှ ပေါ်ထွက်လာ၏။

“လက်ဝဲဘက်က အမြန်တက်” ဟူသော အသံ ' သည် ထပ်မံထွက်ပေါ်လာပြန်သည်။

မြင်းတပ်သားများသည် ရုရှားစစ်ကြောင်း လက်ဝဲ တောင်ပံမှတပ်များကို ဖြတ်ကျော်ကာ စစ်မျက်နှာ ရှေ့ဆုံး တန်းတွင် ရောက်နေသော ရုရှားအမှုထမ်း ပိုလန်တပ်များ၏ နောက်တွင် နေရာယူလိုက်ကြသည်။ လက်ယာဘက် တောင်ပံ၌ကား အရေအတွက်များပြားလှသော ခြေလျင် တပ်များကို တွေ့ရလေသည်။ ၎င်းတို့ကား အရန်တပ်များ ပေတည်း။ မိုးကောင်းကင်ကြီးကို နောက်ခံပြုလျက်ရှိသည့် တောင်ကုန်းထိပ်ပေါ်၌ကား ခပ်စောင်းစောင်း ဖြာကျလျက် ရှိသော နံနက်ခင်းနေရောင်ထဲတွင် ပြိုးပြိုးပြက်ပြက် အရောင်လက်လျက်ရှိသည့် ရုရှားအမြောက်များကို မြင်ရ ၏။ မျက်နှာချင်းဆိုင် တောင်ကြားထဲ၌လည်း ရန်သူတပ် များနှင့် ရန်သူအမြောက်မြတပ်များကို မြင်ရလေသည်။ ရုရှားတို့၏

ရှေ့တန်းစစ်ကြောင်းမှာ တောင်ခြေလျှိုကြား ထဲရှိ ရန်သူတပ်များနှင့် စတင်တိုက်ပွဲဖြစ်ပွားလျက် ရှိပြီ ဖြစ်သဖြင့် သေနတ်သံများကို ကြားရခြင်း ဖြစ်လေသည်။

ဤအသံများကို နီကိုလေ မကြားခဲ့ရသည့်မှာ ကြာလေပြီ။ နီကိုလေသည် သေနတ်သံများကို ကြားလိုက် ရသည်နှင့် ဆိုင်းသံကို ကြားရသကဲ့သို့ မြူး၍ လာလေ သည်။ ဒက်ဒက်၊ ဒက်ဒက်ဟူသော သေနတ်သံများသည် အဆက်မပြတ် ထွက်ပေါ်လာလိုက်၊ တစ်ချက်ပြီးတစ်ချက် ထွက်၍လာလိုက်ဖြင့် တရစပ် မြည်နေကြသည်။ ထို့နောက် အားလုံးတိတ်ဆိတ်သွားကြပြန်သည်။ ထို့နောက် တစ်ဖန် ဗျောက်အိုးများ ဖောက်လိုက်သကဲ့သို့ တရစပ် မြည်ဟည်း လာပြန်လေသည်။

မြင်းတပ်သားများသည် ထိုနေရာတွင် တစ်နာရီခန့် မျှ စောင့်နေကြရသည်။ အမြောက်မြတပူ ပစ်ခတ်သံများ ပေါ်ထွက်လာလေပြီ။ မြို့စားကြီး ဩစတာမန်သည် နောက် လိုက်နောက်ပါများနှင့်အတူ မြင်းတပ်ခွဲအနီးသို့ ရောက်လာ ကာ တပ်ခွဲမှူးနှင့် စကားပြောဆိုပြီးနောက် အမြောက် တပ်ရှိရာ တောင်ကုန်းထိပ်ပေါ်သို့ တက်သွားလေသည်။ " မြို့စားကြီး ဩစတာမန် ထွက်သွားပြီးနောက် မကြာမီ ပိုလန်တပ်ဆီမှ အမိန့်သံတစ်ခု ထွက်ပေါ်လာလေ သည်။

"တန်းစီ တက်ရန် အသင့်ပြင်"

ရှေ့ဆုံးတွင်ရှိနေသော ခြေလျင်တပ်သည် မြင်း တပ် ဖြတ်ကျော်၍ တက်နိုင်ရန်အတွက် တပ်စု ကလေး များအဖြစ်ခွဲ၍ ဘေးသို့ ရှောင်ပေးလိုက်သည်။ ပိုလန်မြင်းတပ်သည် အသားကျ စီး၍ တောင်ကုန်းအောက်သို့ ဆင်းသွားကာ လက်ဝဲဘက်တွင် မြင်နေရသော ပြင်သစ် မြင်းတပ်ဆီသို့ ချီတက်သွားကြသည်။ ပိုလန် မြင်းတပ်သား  များ၏ လုံထိပ်ဖျားမှ စစ်တံခွန်များသည် တဖျတ်ဖျတ် လွင့်လျက်ရှိပေသည်။

ပိုလန်မြင်းတပ် တောင်ကုန်းအောက်သို့ ဆင်းသွား သည်နှင့် နီကိုလေတို့ မြင်းတပ်သည် တောင်ကုန်းထိပ်ရှိ အမြောက်တပ်ကို စစ်ကူပေးရန်အတွက် တောင်ကုန်းထိပ် သို့ ချီတက်လာခဲ့လေသည်။ မြင်းတပ်သည် တောင်ကုန်း ထိပ်သို့ ရောက်လာပြီး စောစောက ပိုလန်မြင်းတပ် တပ်စွဲ ထားသည့်နေရာကို ဝင်ယူလိုက်ချိန်၌ စစ်မျက်နှာမှ ကျည် ဆန်

များသည် တရှိန်ရှိန်မြည်ကာ အနားသို့ ကျလာကြ၏။ သို့ရာတွင် မည်သူ့ကိုမျှ ထိမှန်ခြင်း မရှိသေးချေ။

မကြာႈရကြာပြီဖြစ်သော နီကိုလေအဖို့ကား ဤ အသံများသည် စောစောက အသံများထက် ရွှင်လန်းအား တက်စရာကောင်းလျက် ရှိပေ၏။ နီကိုလေသည် မိမိရင်ကို ကော့လိုက်ကာ တောင်ကုန်းထိပ်ပေါ်မှ စီး၍ မြင်နေရသော စစ်တလင်းကို လှမ်းမျှော်ကြည့်လိုက်ပြီးနောက် ပိုလန် မြင်းတပ်သားများကို မျက်စိတစ်ဆုံး ကြည့်လျက်ရှိလေ သည်။ ပိုလန် မြင်းတပ်သားများသည် ပြင်သစ် မြင်းစီးသူရဲ တပ်ကို တစ်ဟုန်ထိုး ထိုးဖောက်တိုက်ခိုက်ကြလေရာ ယမ်းခိုးများအကြားတွင် အထွေးထွေးဖြစ်လျက် ရှိကြသည်။ ငါးမိနစ်ခန့်ကြာသော် ပိုလန်မြင်းတပ်သည် ကဆုန်စိုင်း၍ ပြေးလာကြလျက် စောစောက တပ်စွဲထားသော နေရာသို့ မလာတော့ဘဲ လက်ဝဲဘက်သို့ ဆုတ်ခွာလာကြလေသည်။ အုန်းခွံရောင် မြင်းကြီးများပေါ်၌ လိမ္မော်သွေးဝတ်စုံကို ဝတ်ထားသည့် ပိုလန်မြင်းတပ်သားများ အကြားနှင့် ၎င်း တို့၏ နောက်ဖျား၌ ဖောင်းဝတ်ပြာရောင် မြင်းကြီးများကို စီး၍ အပြာရောင်ဝတ်စုံများကို ဝတ်ထားသော ပြင်သစ် မြင်းစီးသူရဲများကို မြင်ရလေသည်။

# အခန်း ၁၅

ဤသို့ အပြာရောင် ပြင်သစ် မြင်းစီးသူရဲများက ပိုလန် မြင်းတပ်များအား အပြင်းလိုက်လံတိုက်ခိုက်လျက် ရှိပြီ ဖြစ်ကြောင်းကို နီကိုလေသည် စူးရှထက်မြက်သော တောလိုက်သမား၏ မျက်လုံးများဖြင့် ပထမဦးစွာ သတိပြုလိုက် မိလေသည်။ ဖရိုဖရဲ ဆုတ်ခွာထွက်ပြေးလာကြသော ပိုလန်မြင်းတပ်သည် တဖြည်းဖြည်း နီး၍ နီး၍လာလေပြီ။



၁၈၁၂ ခုနှစ်၊ နပိုလီယံစစ်ပွဲပြ မြေပုံကြမ်း

ပြင်သစ် မြင်းစီးသူရဲများကလည်း နောက်မှ ထက်ကြပ် လိုက်လာကြလေသည်။ တောင်ခြေလျှိုကြားထဲတွင် ရှိစဉ် ထိုမြင်းစီးသူရဲများကို မှုန်မှုန်ရေးရေးမျှသာ မြင်ခဲ့ရသော်လည်း ယခုမူကား ၎င်းတို့သည်ခပ်လှမ်းလှမ်းသို့ ရောက် လာကြကာ ဓားလွတ်များကို ဝှေ့ယမ်းလျက် ညာသံပေး၍ တက်လာကြသည်ကို သဲကွဲစွာ မြင်နေရပြီ ဖြစ်လေသည်။

နီကိုလေသည် တောလိုက်ထွက်လာသကဲ့သို့ မိမိရှေ့တွင် ဖြစ်ပျက်လျက်ရှိသော အခြင်းအရာကို ရပ်၍ ကြည့် နေမိသည်။ ဤအချိန်၌ မိမိတို့ မြင်းတပ်က ပြင်သစ် မြင်းစီးသူရဲတပ်ကို နောက်ပိုင်းမှ ဝင်တိုက်နိုင်လျှင် ပြင်သစ်မြင်းတပ် ပျက်မည်မုချ ဟူသောအသိသည် နီကိုလေ ၏ ခေါင်းထဲသို့ လက်ခနဲ ဝင်ရောက်လာ၏။ ရန်သူ မြင်းတပ်ကို နောက်ပိုင်းမှ ဝင်တိုက်ရန်မှာ ထို့ထက်ကောင်း သော အချိန်မရှိတော့ချေ။ သို့ရာတွင် မိမိ၌ ယခုအချိန်အထိ အမိန့်မရသေး။ အမိန့်ရမှ တိုက်မည်ဆိုလျှင်ကား အခွင့် အရေး ကောင်းတစ်ခုကို လက်လွှတ်ရတော့မည်သာ ဖြစ်လေ သည်။ နီကိုလေသည် ဘေး

ပတ်ဝန်းကျင်ကို လှမ်းကြည့် လိုက်၏။ မိမိဘေးတွင် ဗိုလ်ကြီးတစ်ယောက်သည် မိမိကဲ့သို့ပင် တောင်ခြေရှိ မြင်းတပ်များကို ကြည့်လျက်ရှိလေ

”ါ ဗိုလ်ကြီး၊ ဒီအချိန်မှာ နောက်ကနေ ဝင်ပြီး တိုက်လိုက်ရရင်တော့ အကွက်ကောင်းပဲဗျ” နီကိုလေက ပြောလိုက်၏။

“အစစ်ပဲဗျ၊ အမိန့်မရ” မြင်းတပ်ဗိုလ်ကြီးက ပြန် ပြောလိုက်သည်။

နီကိုလေသည် ဗိုလ်ကြီး၏ စကားဆုံးအောင် မစောင့်တော့ဘဲ မြင်းကိုတို့ကာ တပ်ခွဲရှေ့သို့ ဒုန်းစိုင်း၍ စီးလာခဲ့၏။ နီကိုလေ၏အမိန့်ပေးသံမှ မဆုံးမီတွင် မြင်း တပ်သားများသည် မြူးကြွလာကြကာ နီကိုလေ၏နောက် သို့ တစ်ဟုန်ထိုး လိုက်လာခဲ့ကြလေသည်။ နီကိုလေသည် တိုက်ရန် အမိန့်ကို မည်သို့မည်ပုံ ပေးလိုက်မိသည်ကို မသိတော့ချေ။ တောလိုက်ရာတွင် မည်သည့်အကြောင်း ကိုမျှ စဉ်းစားခြင်း မပြုမိတော့ဘဲ သားကောင်နောက်သို့ လိုက်လျက်ရှိသကဲ့သို့ ယခုလည်း ရန်သူမြင်းတပ်ဆီသို့ သာ တစ်ဟုန်ထိုး စီးလာခဲ့လေသည်။ တဖြည်းဖြည်း ပြင်သစ်မြင်းစီးသူရဲများနှင့် နီးလာပေပြီ။ အလုံးအရင်းနှင့် ဆင်းလာသော မိမိတို့မြင်းတပ်ကို မြင်သည်၌ ရန်သူမြင်း တပ်များသည် ပိုလန်မြင်းတပ်သားများ နောက်သို့ ဆက်၍ မလိုက်တော့ဘဲ ဖရိုဖရဲ ဆုတ်ခွာထွက်ပြေးလျက်ရှိသည်ကို မြင်ရလေသည်။ ရန်သူ မြင်းတပ်သည် မိမိတို့၏ တိုက်စစ် ကို ခံနိုင်မည်မဟုတ်ကြောင်း၊ ရန်သူမြင်းတပ်ကို တိုက်ခိုက် ရန်မှာ ဤအချိန်သည် အကောင်းဆုံးအချိန်ဖြစ်ကြောင်း၊ အခွင့်ကောင်းကို လက်လွှတ်လိုက်ပါက နောင်တွင် ထို့ ထက်ကောင်းသော အခွင့်အရေးကို မည်သည့်အခါမျှ ရ တော့မည်မဟုတ်ကြောင်း နီကိုလေသိ၏။ ထို့မျှမက ရန်သူကျည်ဆန်များကလည်း စိတ်အားတက်ကြွဖွယ် ကောင်းလောက်အောင် နီကိုလေ၏အနီးတွင် တဝီဝီဖြတ် သန်းလျက်ရှိ၍ ၎င်း၏မြင်းကြီးကလည်း ရှေ့သို့သာ အတင်းဆွဲလျက်ရှိလေရာ နီကိုလေသည် မချုပ်တည်းနိုင် တော့ဘဲ မြင်းကို တို့၍ တပ်သားများကို တိုက်ရန် အမိန့် ပေးကာ ပြင်သစ်မြင်းစီးသူရဲများရှိရာ တောင်ကုန်းအောက် သို့ တအားစီး၍ လာခဲ့ခြင်းဖြစ်ပေသည်။ ၎င်း၏နောက်၌ ကား မြင်းတပ်သားများသည် မိုးခြိမ်းသကဲ့သို့သော ခွာသံ များကို ပေးလျက် လိုက်ပါလာကြ၏။ တောင်ကုန်း

အောက်   လွင်သို့ ရောက်သည်နှင့် တစ်ပြိုင်နက် ရုရှားမြင်းတပ်များ သည် အသော့စီးလာခဲ့ရာမှ ဒုန်းစိုင်းကာ မြန်သည်ထက် မြန်လာကြပေပြီ။ ရှေ့၌ ပိုလန်မြင်းတပ်ရှိ၍ နောက်၌ ပိုလန်မြင်းတပ်များကို ဖိ၍လိုက်နေသော ရန်သူပြင်သစ်မြင်း တပ် ဖြစ်၏။ နီကိုလေတို့ မြင်းတပ်က ပြင်သစ်မြင်းတပ် ကို ဘေးမှ ဦးတိုက်လိုက်၍နေခြင်း ဖြစ်လေသည်။ ယခု အချိန်၌ကား နီကိုလေတို့ မြင်းတပ်သည် ပြင်သစ်မြင်းတပ် များနှင့် လက်တစ်ကမ်းသို့ ရောက်လျက်ရှိလေပြီ။ ရုရှား မြင်းတပ်ကို မြင်လိုက်သည်၌ ရှေ့ဆုံးမှတက်လာသော ပြင်သစ်မြင်းစီးသူရဲများသည် နောက်သို့ ပြန်လှည့်ပြေးကြ ၏။ နောက်ကလိုက်လာသော ရန်သူမြင်းတပ်သားများ သည် တန့်နေကြ၏။ နီကိုလေသည် ဝံပုလွေအား လမ်းမှ ဖြတ်၍လိုက်စဉ်ကကဲ့သို့သော စိတ်အားထက်သန်ခြင်းမျိုး ဖြင့် ဖရိုဖရဲဖြစ်လျက်ရှိသော ရန်သူ ပြင်သစ်မြင်းစီးသူရဲ စစ်ကြောင်းကို လမ်းမှဖြတ်၍ တိုက်ခိုက်ရန် မိမိ၏ဒွန်မြင်း ကြီး ကို ဇက်ကုန်ဆွဲ၍ စီးလာခဲ့သည်။ ပိုလန်မြင်းတပ်သား တစ်ယောက်သည် မိမိတို့ဘက်မှ စစ်ကူရောက်ရှိလာပြီကို သိသည့်အတွက် ဆက်၍မပြေးတော့ဘဲ ရပ်လိုက်သည်။ မြင်းမရှိတော့ဘဲ ခြေလျင်ပြေးနေသည့် အခြားပိုလန်တပ် သားတစ်ယောက်ကား မြင်းတိုက်မိမည်စိုးသည့်အတွက် မြေကြီးပေါ်တွင် ပစ်၍ လှဲချလိုက်သည်။ ပိုလန်မြင်းတပ် မှ စီးသူမရှိတော့သော မြင်းတစ်ကောင်သည် ရုရှားမြင်းတပ် များကြားတွင် လဲကျသွား၏။ ပြင်သစ်မြင်းစီးသူရဲအားလုံး လောက်မှာ ဆုတ်ခွာထွက်ပြေးကြလေပြီ။ နီကိုလေသည် ဖောင်းဝတ်ရောင်ခြင်းကြီးကို စီးထားသည့် ရန်သူပြင်သစ် တစ်ယောက်ကို ရွေးကာ ထို သူ၏နောက်သို့ သဲသဲမဲမဲ လိုက်လာခဲ့လေသည်။ လမ်းတွင် ချုံတစ်ချုံ ကာဆီးလျက် ရှိသော်လည်း ၎င်း၏ဒိုးနက်မြင်းကြီးသည် ထိုရုံလောက်ကို မမှုဘဲ လွှားခနဲ ခုန်လိုက်လေရာ နီကိုလေမှာ မြင်းကုန်းပေါ် မှ မြောက်တက်သွားလေသည်။ သို့ရာတွင် မြင်းကုန်းပေါ်သို့ ပြန်၍ မကျမီ၌ပင် မိမိလိုက်လံလျက်ရှိသော ရှေ့က ရန်သူကို မီလုမီခင်ဖြစ်လျက် ရှိလေပြီ။ တပ်ဗိုလ်ဝတ်စုံကို ဝတ်ထားသည့် ထိုပြင်သစ်မြင်းစီးသူရဲကလည်း မြင်းကုန်း ပေါ်တွင် ဝပ်၍ ကဆုန်စိုင်းနေရင်းက ဓားလွယ်ဖြင့် မြင်း၏နံပါးကိုရိုက်၍ ခြေကုန်စီးလျက် ရှိလေသည်။ ခဏအကြာ၌မူကား နီကိုလေ၏မြင်းသည် ပြင်သစ်မြင်း၏   ဖင်ပိုင်းကို ရင်အုပ်နှင့်

ဝင်ဆောင့်လိုက်လေရာ ပြင်သစ် မြင်းသည် လဲကျတော့မည်ကဲ့သို့ ယိုင်သွားသည်။ ထိုခဏ၌ နီကိုလေသည် ဓားလွယ်ကိုမြှောက်၍ ပြင်သစ်ဗိုလ် ကို ခုတ်ပိုင်းချလိုက်သည်။

ဤသို့ ဓားလွယ်ဖြင့် ရန်သူကို ခုတ်ပိုင်းလိုက်သည် နှင့်တစ်ပြိုင်နက် နီကိုလေ၏ စိတ်အားတက်ကြွခြင်းဟူသမျှ တို့သည်တစ်မုဟုတ်ချင်းပျောက်ကွယ်သွားကြလေပြီ။ ရန်သူ တပ်ဗိုလ်သည် မြင်းပေါ်မှ လိမ့်ကျသွားလေသည်။ သို့ရာ တွင် နီကိုလေ၏ဓားချက်မှာ တံတောင်ဆစ်အထက် လက် မောင်းများကို ရှပ်၍ထိသွားခြင်းမျှသာ ဖြစ်သဖြင့် ဓားချက် ကြောင့် လိမ့်ကျခြင်းမဟုတ်ဘဲ မြင်းလန့်၍ ခုန်လိုက်သဖြင့် လိမ့်ကျသွားခြင်းသာ ဖြစ်လေသည်။ နီကိုလေသည် မြင်းဇက်ကိုလျှော့လိုက်၍ မိမိ၏ရန်သူကို ကြည့်လိုက်သည်။ ပြင်သစ်မြင်းတပ်ဗိုလ်သည် မြေကြီးပေါ်တွင် ခြေတစ်ပေါင် ကျိုးခုန်လျက်ရှိ၏။ ကျန်ခြေထောက်တစ်ဖက်ကား ခြေ နင်းကွင်းထဲတွင် ချိတ်လျက်ရှိလေသည်။ ပြင်သစ်တပ်ဗိုလ် သည် နောက်တစ်ကြိမ်ကျရောက်လာမည့် နီကိုလေ၏ ဓားချက်ကို ကြောက်ရွံ့လျက်ရှိကာ နီကိုလေကို ထိတ်လန့် သော မျက်လုံးများဖြင့် မော့ကြည့်လျက် ရှိလေသည်။ ထိုတပ်ဗိုလ်၏မျက်နှာမှာ ဖြူဖပ်ဖြူရော်ဖြစ်ကာ ရွံ့များ ပေကျံလျက်ရှိ၏။ ပြာလဲ့သော မျက်လုံးများ၊ ပါးချိုင့် ကလေးများနှင့်တကွ နုနယ်ပျိုမျစ်သော ထိုတပ်ဗိုလ်၏ မျက်နှာကား စစ်မြေပြင်တွင် တွေ့ရတတ်သော ရန်သူ၏ မျက်နှာထားမျိုးမဟုတ်ဘဲ သာမန်အရပ်သားကလေးတစ် ယောက်၏ မျက်နှာမျိုးဖြစ်၏။ နီကိုလေသည် သနရုပ်ပွရှိသော ပြင်သစ် တပ်ဗိုလ်ကလေးကိုကြည့်ရင်း ဘာလုပ်ရ မည်မသိဘဲ ဖြစ်နေစဉ်တွင် ထိုတပ်ဗိုလ်ကလေးက “လက် နက်ချပြီ”ဟု အော်လိုက်သည်။ ပြင်သစ်တပ်ဗိုလ်ကလေးသည် ခြေနင်းကွင်းတွင် ချိတ်ဆွဲလျက်ရှိသော ခြေထောက် တစ်ဖက်ကို ဖြုတ်ရန် ကြိုးစားသော်လည်း အချည်းနှီး ဖြစ်လျက် ရှိလေသည်။ ကြောက်ရွံ့ ထိတ်လန့်လျက်ရှိသော မျက်လုံးများကမူ နီကိုလေကိုသာ စိုက်ကြည့်လျက်ရှိ၏။ ဤတွင် ရုရှား မြင်းတပ်သားများ ရောက်လာပြီး ခြေထောက် ကို ခြေနင်းကွင်းမှ ဖြုတ်ပေးကာ သူ့ကို မြင်းပေါ်သို့ တင်ပေးလိုက်ကြ၏။ ဘေးတစ်ဖက်တစ်ချက်၌ကား ရုရှား မြင်းတပ်များသည် ပြင်သစ် မြင်းစီးသူရဲများနှင့် ထိုးခုတ်  တိုက်ခိုက်လျက် ရှိလေ၏။ ပြင်သစ် မြင်းစီးသူရဲတစ်ယောက်မှာ ဓားချက်မိကာ မျက်နှာတွင် သွေးတွေရဲလျက် ရှိသော်လည်း မြင်းကို အတင်း

တွယ်ဖက်ထားလေသည်။ အခြားရန်သူတပ်သားတစ်ယောက်ကမူ ရုရှားမြင်းတပ် သားကို နောက်မှ ဝင်အုပ်လိုက်ကာ လည်ပင်းကို လက် မောင်းများဖြင့် ညှပ်ထားသည်။ အခြား တစ်ယောက်ကိုမူ ကား ရုရှားမြင်းတပ်သားများက မြင်းပေါ်သို့ ကူ၍တင်ပေး လျက်ရှိ၏။ ရှေ့မှ ပြင်သစ်ခြေလျင်တပ်များသည် ဆုတ် ပစ် ပစ်လျက်ရှိ၏။ ရုရှားမြင်းတပ်များသည် ဖမ်းဆီးရမိ သော သုံ့ပန်းများကို ခေါ်ဆောင်ကာ ဒုန်းစိုင်း၍ ပြန်လာ ခဲ့ကြ၏။ နီကိုလေ သည်လည်း မိမိမြင်းတပ်သားများနှင့် အတူ ပြန်လှည့်လာခဲ့လေသည်။ သို့ရာတွင် သူ့စိတ် ထဲ၌ ကား ကြည်လင်ရွှင်ပျခြင်း မရှိတော့ဘဲ လေးလံထိုင်းမှိုင်း လျက် ရှိလေပြီ။ ရန်သူ တပ်ဗိုလ်ကလေးကို ဓားနှင့်ခုတ်၍ ဖမ်းဆီးလာခဲ့သည့်နောက်တွင် နီကိုလေ၏စိတ်သည် နောက်ရှုပ်ထွေးလျက် လာခဲ့လေပြီ။ အဘယ်ကြောင့် ထိုသို့ဖြစ်ရသည်ကိုလည်း စဉ်းစား၍မရအောင် ဖြစ်လျက် ရှိလေသည်။

တပ်မှူး မြို့စားကြီး ဩစတာမန်သည် စစ်တလင်းမှ ပြန်လာသော မြင်းတပ်သား များကို ဆီးကြိုကာ နီကိုလေ ကို အခေါ်လွှတ်လိုက်ပြီးနောက် ကျေးဇူးတင်ကြောင်း ပြောဆိုလျက် နီကိုလေ၏ စွမ်းစွမ်းတမံ ဆောင်ရွက်ချက် များကို ဘုန်းတော်ကြီးသော ဘုရားထံသို့ လျှောက်တင် မည်ဖြစ်ကြောင်း၊ သူရသတ္တိမြောက်သော ဆောင်ရွက်ချက် များအတွက် ချီးမြှင့်လေ့ရှိသော စိန့်ဂျော့ ဘွဲ့တံဆိပ် ချီးမြှင့် ရန်လည်း ထောက်ခံရေးသား မည် ဖြစ်ကြောင်းဖြင့် ပြော ဆိုခြင်းပြုလေသည်။ နီကိုလေ၏စိတ်၌မူကား မြို့စားကြီး ဩ စတာမန်က အခေါ်လွှတ်လိုက်သည်ဟု ဆိုသည်နှင့် တစ်ပြိုင်နက် တိုက်ရန်အမိန့်မရှိဘဲ ဝင်ရောက် တိုက်ခိုက်ခြင်းကို အမှတ်ရကာ မိမိ၏ စည်းကမ်းဖောက် ဖျက်မှုကြောင့် အပြစ်ပေးတော့မည်ဟု စိုးရိမ်လျက်ရှိခဲ့ရာ ယခုကဲ့သို့ မြို့စားကြီး ဩစတာမန်၏ အားပေး ချီးမြှောက် သော စကားများကို မမျှော်လင့်ဘဲ ကြားလိုက်ရသောအခါ ၌ကား ဆတက်ထမ်းပိုးတိုး၍ ဝမ်းသာသွားမိလေသည်။ ( သို့တိုင်အောင် မိမိ၏ အကျင့်သိက္ခာကို မသတီဖြစ်လျက် ရှိခြင်းကား ပျောက်ကွယ်၍ မသွားသေးချေ။

”ငါ ဘာဖြစ်လို့ ဒီလောက် စိတ်လေးနေရတာလဲ” နီကိုလေသည် ဗိုလ်ချုပ်မြို့စားကြီး ဩစတာမန်ထံမှ မြင်းစီး၍ ပြန်လာခဲ့စဉ် ဤသို့ လာခဲ့မိလေသည်။ “အီလျင်အတွက် စိတ်လေးတာလား၊ အီလျင်အတွက်လဲ မဖြစ်နိုင်ဘူး၊ အီလျင် ချောချောမောမော ပြန်ရောက်လာ ပြီပဲ၊ စိတ်လေးစရာ မလိုတော့ပါဘူး၊ ငါ့သိက္ခာကို ငါ ကျအောင်လုပ်ခဲ့လို့ စိတ်ထဲမှာ နောက်ကျနေတာလား၊ ဒါလဲ မဟုတ်ဘူး”

ဤသို့ အပြန်ပြန် အလှန်လှန် စဉ်းစားမိသော် လည်း အကြောင်းရင်းကို ရှာ၍မတွေ့နိုင်အောင် ဖြစ်လျက် ရှိလေသည်။

“သိပြီ၊ သိပြီ၊ ပါးချိုင့်လေးနဲ့ ပြင်သစ်တပ်ဗိုလ်လေး အတွက် စိတ်လေးနေတာ မဟုတ်လား၊ ဓားနဲ့ခုတ်မယ် လုပ်တော့ ငါ့လက်တွေဟာ အလိုလို ဆိုင်းသွားကြတယ် မဟုတ်လား”

နီကိုလေသည် သုံ့ပန်းများအား ခေါ်ဆောင်သွား သည်ကို မြင်လိုက်ရ၏။ ထို့ကြောင့် ပါးချိုင့်ကလေးနှင့် ပြင်သစ်တပ်ဗိုလ်ကလေးကို ကြည့်ရန် ၎င်းတို့နောက်သို့ ကဆုန်ချ၍ လိုက်လာခဲ့လေသည်။ ပါးချိုင့်နှင့် ပြင်သစ် တပ်ဗိုလ်ကလေးသည် ပြင်သစ်စစ်ဝတ်စုံကို ဝတ်၍ မြင်း တစ်စီးပေါ်တွင် ထိုင်လျက် လိုက်ပါသွားရင်း ဘေးပတ်ဝန်း ကျင်ကို စိုးရိမ်တကြီး ကြည့်လျက်ရှိလေသည်။ ၎င်း၏ လက်မောင်းပေါ်မှ ဓားဒဏ်ရာမှာ ဒဏ်ရာဟု ခေါ်ထိုက် လောက်အောင် မကြီးလှသဖြင့် နီကိုလေသည် အနည်းငယ် စိတ်သက်သာရာ ရသွားသလိုရှိ၏။ ပါးချိုင့်နှင့် ပြင်သစ် တပ်ဗိုလ်ကလေးသည် ကြိုးစား၍ ပြုံးကာ နီကိုလေအား လက်ပြနှုတ်ဆက်လိုက်သည်။ နီကိုလေကား ရှက်သလိုလို မလုံသလိုလို ဝေဒနာတစ်မျိုးကို ခံစားနေရဆဲပင် ရှိပေ သေး၏။

တစ်ရက်နှစ်ရက်အတွင်း၌ကား နီကိုလေသည် ရွှင်ရွှင်ပျပျမရှိလှဘဲ တစ်စုံတစ်ခုကို လေးနက်စွာ တွေးတော လျက်ရှိသည့်ပမာ ခပ်ဆိတ်ဆိတ် ဖြစ်လျက်ရှိခြင်းကို တွေ့ ရ၏။ အရက်သောက်သည့်အခါ၌လည်း စိတ်ပါဟန် မရှိဘဲ တစ်ယောက်တည်း ငိုင်လျက်ရှိရာက မိမိ၏ စိတ်ထဲတွင် လိပ်ခဲတည်းလည်း ဖြစ်လျက်ရှိသောအရာကို ဖြေဖျောက်ရန် ကြိုးစားလျက် ရှိလေသည်။ နီကိုလေသည် မမျှော်လင့်ဘဲနှင့် စိန့်ဂျော့သူရဲ ကောင်း

တံဆိပ်ကြီးနှင့်တကွ သူရသတ္တိနှင့် ပြည့်စုံပါပေ သည်ဟူသော ကျော်ကြားခြင်းကိုရရန် ဖန်တီးပေးလိုက် သည့် မိမိ၏ စွန့်စားခန်းကိုသာ အမြဲတစေ တွေးတောနေ မိလေသည်။ သို့ရာတွင် ထိုအကြောင်းများကို စဉ်းစား လိုက်တိုင်း နီကိုလေ၏ အတွေးများသည် ပို၍ ရှုပ်ထွေး လာကြလေသည်။

"ငါဟာ စိန့်ဂျော့ သူရဲကောင်းတံဆိပ်ကြီးကို ရ တော့မယ်၊ ဒီသူရဲကောင်းတံဆိပ်ကို ငါ ဘာဖြစ်လို့ရသလဲ၊ အဓိပ္ပာယ်ကတော့ တခြားလူတွေဟာ ငါ့ထက်တောင် ကြောက် တယ်၊ ငါ့ထက်တောင် သူရဲဘောနည်းတယ်ဆိုတဲ့ အဓိပ္ပာယ်ပဲ၊ ငါကော မကြောက်ဘူး လား၊ ငါလဲ ကြောက် တာပဲ၊ ဒါပေမဲ့ ငါက အကြောက်နည်းတယ်၊ ဒါပေမဲ့ ဒါ ကိုပဲ သူတို့က သူရဲကောင်းလို့ ဆိုကြပြန်တယ်၊ ငါဟာ ငါ့တိုင်းပြည်နဲ့ ငါ့လူမျိုးအတွက် စစ်တိုက်နေတာ ကော ဟုတ်ရဲ့လား၊ မျက်လုံးပြာတွေနဲ့ ပါးချိုင့်ကလေးရှိတဲ့ ပြင်သစ်တပ်ဗိုလ်ကလေးမှာ ကော ဘာအပြစ်ရှိသလဲ၊ ကြည့် ရတာကတော့ ငါက သူ့ကို သတ်တော့မယ်ထင်လို့ ထင် ( ပါရဲ့၊ ကြောက်နေလိုက်တာ၊ ငါကကော သူ့ကို ဘာဖြစ်လို့ သတ်ရမှာလဲ၊ ဘာအကြောင်း ကြောင့် သတ်ရမှာလဲ၊ ဒီ တုန်းက ငါ့လက်တွေဟာ ဘာဖြစ်လို့ တုန်နေရတာလဲ။ လူတစ် ယောက်အသက်ကို သတ်ရမှာ ဝန်လေးပြီး လက် တုန်နေတဲ့ ငါ့လို လူတစ်ယောက်ကို စိန့် ဂျော့သူရဲကောင်း တံဆိပ်ပေးကြဦးမလို့တဲ့၊ ငါ မစဉ်းစားတတ်တော့ဘူး၊ စဉ်းလဲ မစဉ်းစား ချင်တော့ဘူး"

နီကိုလေသည် ဤပြဿနာများကို စဉ်းစားလျက် ရှိ၍ မိမိအား စိတ်ညစ်ကျူ ရှုပ်ထွေးစေသော ထိုပြဿနာ များ၏ အဖြေကို ရှာဖွေတွေ့ရှိနိုင်ခြင်း မရှိသော်လည်း ကံ တရားတည်းဟူသော ဘီးကြီးသည် တက်စီးနိုင်ရန် မိမိဘက်သို့ လိမ့်လာလျက် ရှိလေပြီ။ ဩစထရိုနာတိုက်ပွဲ ပြီးသည့်နောက်၌ နီကိုလေအား မြင်းတပ်ရင်းတစ်ရင်း၌ တပ်ရင်းမှူး အဖြစ် ခန့်အပ်လိုက်ကြောင်း အမိန့်ထွက်လာ လေသည်။ ထိုမျှမက သူရသတ္တိ ပြောင်မြောက်သော တပ် ဗိုလ်တစ်ဦးကို အလိုရှိလျှင်လည်း နီကိုလေသာ ရွေးချယ် ခြင်း ခံရလေသည်။

# အခန်း ၁၆

နာတာရှာ နာမကျန်းဖြစ်လျက်ရှိသည်ဟူသော သတင်းကို ကြားရသည့်အခါ၌ မိခင် မြို့စားကတော်ကြီးမှာ ကောင်းစွာ နာလန်ထခြင်း မရှိသေးဘဲ အားနည်းလျက်ပင် ရှိသေး သော် လည်း သားငယ်ပီတာနှင့်တကွ အခြွေအရံများအားလုံး ကိုပါ ခေါ်၍ မော်စကိုသို့ ရောက်လာခဲ့လေသည်။ မြို့စား ကတော်ကြီး ရောက်ရှိလာပြီး မကြာမီမှာပင် မာယာဒီမီ ထရိယက်ဗ်နာ၏အိမ်မှ ၎င်းတို့ပိုင် မော်စကိုအိမ်သို့ ပြောင်း ရွှေ့လာခဲ့ကာ မြို့မှာပင် အခြေချလျက် ရှိလေသည်။

နာတာရှာမှာ အသည်းအသန် မကျန်းမာခြင်းဖြစ်ရ ကား မကျန်းမာခြင်း၏ အကြောင်းရင်းများ၊ နာတာရှာ၏ အပြုအမူများ၊ မင်းသားကလေး အင်ဒရေနှင့် စေ့စပ် ကြောင်းလမ်းမှု ဖျက်သိမ်းခြင်း စသည့်ကိစ္စများသည် ထင်ပေါ်လာခြင်း မရှိတော့ဘဲ မေ့မေ့ပျောက်ပျောက် ဖြစ် သွားကြလေသည်။ ဤသို့ မေ့မေ့ပျောက်ပျောက် ဖြစ်သွား ခြင်းသည်ပင် နာတာရှာနှင့်တကွ နာတာရှာ၏ မိဘများ အဖို့ ကံကောင်းထောက်မခြင်း ဖြစ်သည်ဟု ဆိုရမည် ဖြစ်လေသည်။ နာတာရှာမှာ များစွာ နာမကျန်းဖြစ်လျက် ရှိ သည့်အတွက် ဖြစ်ခဲ့သောကိစ္စများနှင့် ပတ်သက်၍ နာတာရှာအား ကဲ့ရဲ့ သင်္ဂြိုဟ်စကား တင်းဆို၍ မသင့်တော် အောင် ဖြစ်လျက်ရှိကြပေသည်။ နာတာရှာမှာ အစားလည်း မဝင်၊ အအိပ်အနေလည်း နည်းပါးကာ ပိန်ချုံးသည်ထက် ပိန်ချုံးလာခဲ့၏။ ချောင်းကလည်း အပြင်းအထန်ဆိုး၏။ သမားတော်များကလည်း စိုးရိမ်ရသည်ဟု ဆိုကြ၏။ ၎င်း တို့သည် နာတာရှာ၏ရောဂါ ပျောက်ကင်းရေးကိုသာ ကြံစည်စိတ်ကူးလျက် ရှိကြ၏။ တစ်ဦးချင်း သော်လည်း ကောင်း၊ စုပေါင်း၍သော်လည်းကောင်း နာတာရှာကို ဝင် ရောက်ကြည့်ရှု ကြ၏။ ပြင်သစ်၊ ဂျာမန်၊ လက်တင် စသည့် စကားအမျိုးမျိုးဖြင့် တိုင်ပင်ဆွေးနွေးကြ၏။ သူ့ကုထုံး က မှားသည်၊ ငါ့ကုထုံးက မှန်သည် စသည်ဖြင့် တစ် ယောက်ကိုတစ်ယောက် အပြစ်ဖို့ကြ၏။ ၎င်းတို့သိသမျှ သော ရောဂါအမျိုးအမည် အားလုံးကို တစ်မျိုးပြီးတစ်မျိုး ရွတ်ဆို၍ ရေတွက်ခြင်းငှာ မစွမ်းနိုင်သော ဆေးအမျိုးမျိုး ကို တစ်ဖုံပြီးတစ်ဖုံ တိုက်ကျွေး ကြ၏။ သို့သော်လည်း အသက်ရှင်နေသော လူတစ်ယောက်တွင် စွဲကပ်သည့် ရောဂါ

ဝေဒနာကို တကယ်နားလည် သိကျွမ်းသူဟူ၍ လောကတွင် တစ်ယောက်မျှ မရှိသည့် အလျောက် မိမိတို့ သည်လည်း နာတာရှာ၏ ရောဂါနှင့်စပ်လျဉ်း၍ ဘာမျှ နားလည် သိကျွမ်းခြင်း မရှိဟူသော လွန်စွာ ရှင်းလင်း လွယ်ကူသည့် အချက်ကြီးကိုမူကား အဆိုပါ သမားတော် ကြီးများ မစဉ်းစားမိကြချေ။ ဆေးသမားဆိုသူများက လူတို့၏ ရောဂါဝေဒနာ ကို တတ်ကျွမ်းနားလည်၍ ပျောက် ကင်းအောင် ကုသပေးနိုင်သည်ဆိုသော စကားသည် စင် စစ်၌ အလကားစကားသာ ဖြစ်လေသည်။

အမှန်၌ကား လူ၏ခန္ဓာကိုယ် စက်ယန္တရားကြီး သည် ရှုပ်ထွေးဆန်းကြယ်သည့် အလျောက် လူတွင် စွဲကပ် သော ရောဂါဝေဒနာများကို မည်သူမျှ နားလည်ကြသည် မဟုတ်ချေ။ နားလည်သူဟူ၍လည်း တစ်ယောက်မျှ မရှိ ချေ။ အဘယ်ကြောင့်ဟူမူ အသက်ရှင်နေသူတိုင်း၌ တစ် ယောက်တစ်မျိုးစီ ကွဲပြားခြားနားသော ကိုယ်ခန္ဓာဖွဲ့စည်း ပုံများ၊ ထူးခြားချက်များရှိကြ၍ သို့ရှိသည့်အလျောက်လည်း ထူးခြားဆန်းပြား ရှုပ်ထွေး၍ ဆေးပညာထဲတွင် ရှာမတွေ့ နိုင်သော ကိုယ်ပိုင်ရောဂါ အသစ်အဆန်းများ တစ်ယောက် တစ်မျိုးစီ ရှိတတ်ကြသောကြောင့်ပေတည်း။ ထိုကိုယ်ပိုင် ရောဂါကား အဆုတ်ရောဂါ၊ အသည်းရောဂါ၊ ကျောက် ကပ်ရောဂါ၊ အရေပြားရောဂါ၊ နှလုံးရောဂါ၊ အာရုံကြော ရောဂါ စသည့် ဆေးကျမ်းများထဲတွင် ဖော်ပြထားသော ရောဂါတို့အနက် တစ်ခုမျှ မဟုတ်ကြဘဲ ထိုကိုယ်အင်္ဂါ အစိတ်အပိုင်းဆိုင်ရာ ရောဂါအားလုံး စုပြုံပေါင်းစပ်ထား သည့် ကိုးဆယ့်ခြောက်ပါး ရောဂါပေါင်းချုပ် အမျိုးမျိုး အနက် ရောဂါပေါင်းချုပ် တစ်မျိုးသာ ဖြစ်လေ သည်။ ထို့ကြောင့် လူတစ်ယောက်တွင် စွဲကပ်သော ရောဂါဝေဒနာ ကို တိကျ ပြည့်စုံစွာ နားလည်သူဟူ၍ လောကတွင် တစ်ယောက်မျှ မရှိနိုင်ချေ။ သို့ရာတွင် (ဂါထာမန္တရားတို့ကို မန်းမှုတ် စီရင်ခြင်း မပြုတတ်ဟူသော အတွေးမျိုးသည် မှော်ဆရာ တစ်ဦး၏ခေါင်းထဲတွင် မပေါ်ပေါက်နိုင်သကဲ့ သို့) ရောဂါဝေဒနာတို့ကို မိမိတို့ တတ်ကျွမ်းနားလည်ခြင်း မရှိ ဟူသော လွန်စွာ ရှင်းလင်းလွယ်ကူသည့် အတွေးသည် လည်း ဆေးသမားဆိုသူတို့၏ ခေါင်းထဲတွင် ပေါ်ပေါက် နိုင်ခြင်း မရှိချေ။ ဤမျှ လွယ်ကူရှင်းလင်းသော အတွေးမျိုး ကို ဆေးသမားဆိုသူတို့ မတွေးမိခြင်းမှာလည်း စင်စစ်၌ ဘာမျှ မဆန်းချေ။ အကြောင်းမူကား ဆေးသမားဆိုသူ တို့၏အလုပ်သည် (လူနာရောဂါပျောက်ရေးထက်)

ဆေးကု စားရုံသက်သက်မျှသာဖြစ်၍ သို့ဆေးကုစားခြင်းဖြင့်လည်း ငွေကြေး အမြောက် အများရရှိခဲ့ကာ အချိန်အရွယ်ကောင်း တုန်းတွင် ထိုအလုပ်ဖြင့် အကြီးအကျယ် စီးပွား လမ်း ဖြောင့်ခဲ့ကြပြီး ဖြစ်သောကြောင့်တည်း။ ထိုမှတစ်ပါး ဤမျှ ရှင်းလင်းလွယ်ကူသော အချက်ကြီးကို ဆေးသမား များ မမြင်နိုင်အောင် ဖြစ်ကြရသည့် အခြားသောအကြောင်း တစ်ရပ်မှာ ၎င်းတို့သည် (မြို့စားကြီး ရော့စတော့ဗ်မိသားစု အတွက် အသုံးဝင်လျက် ရှိ သည့်နည်းတူ) ကမ္ဘာပေါ်ရှိ လူသားများအားလုံးအတွက် အသုံးဝင်လျက်ရှိသည်ဆိုသည့် အချက်ကို ၎င်းတို့ကိုယ်တိုင် သိမြင်နေကြသောကြောင့် ဖြစ်လေသည်။ သို့ရာတွင် ၎င်းတို့ အသုံးဝင်နေကြခြင်းမှာ လူနာအား ဆေးဝါးများ တိုက်ကျွေးခြင်းကြောင့် အသုံး ဝင်နေ ခြင်း မဟုတ်ချေ။ (စင်စစ်၌ ၎င်းတို့တိုက်ကျွေးသော ဆေးများသည် အသက်ကိုပင် ဥပါဒ် ဖြစ်စေသေးသည်။ ထိုဆေးများကို အနည်းငယ်မျှသာ တိုက်ကျွေးခြင်းကြောင့် ၎င်းတို့၏ ဥပါဒ်ပေးတတ်သောသဘောကို ရုတ်တရက် သဘောမပေါက်နိုင်ကြခြင်း ဖြစ်သည်။) ဆေးသမားများ သည် လူများအတွက် မရှိမဖြစ်သောအရာ၊ အသုံးဝင်သော အရာ၊ ခွဲခွာမရ စကောင်းသောအရာ ဖြစ်နေကြခြင်းမှာ ၎င်းတို့သည် လူနာနှင့်တကွ မကင်းရာမကင်းကြောင်း ပုဂ္ဂိုလ်များအား စိတ်ချမ်းသာမှု၊ နှစ်သိမ့်မှု ပေးနိုင်ခြင်း ကြောင့် သာ ဖြစ်လေသည်။

ထို့ကြောင့်လည်း လောက၌ သမားတု သမား ယောင်များ၊ ပျောက်စေဆရာများ၊ ဓာတ်ဆရာများ၊ နတ် ကတော်များဟူ၍ ရှိနေခြင်းဖြစ်လေသည်။ ၎င်းတို့သည် နောင်၌လည်း ရှိနေဦးမည်သာ ဖြစ်လေသည်။ လူသည် ယုယကြင်နာခြင်း၊ သောက ဗျာပါရကင်း၍ စိတ်ချမ်းသာစွာ နေထိုင်ရခြင်းကို တောင့်တတတ်သော သတ္တဝါဖြစ်ရာ ဆေးသမားဆိုသူများသည် ထိုတောင့်တချက်ကို ဖြည့်စွမ်း ပေးတတ်ကြ၏။ နာမကျန်းဖြစ် လျက် ရှိသူ၏ဆန္ဒကို တစ်နည်းမဟုတ် တစ်နည်း နှစ်သိမ့်ပေးတတ်ကြ၏။ ကလေးတစ် ယောက်က ခိုက်မိသွားသောနေရာကို “ခြုံ မန်းပေးစေလိုခြင်း၊ “ကြပ်ပူထိုး” ပေးစေလို ခြင်းမှာ လူတွင် ရှိတတ်သော ကြင်နာယုယခံလိုမှု၊ စိတ်သက်သာရာရလိုမှု စသည်တို့ကို ဖော်ပြသည့် အခြေခံအကျဆုံးသော ပုံ သဏ္ဌာန်ဖြစ်၏။ ကလေးတစ်ယောက်သည် မတော်တဆ ခိုက်မိသည့်အခါ၌ မိခင်ထံသို့လည်းကောင်း၊ အထိန်းထံသို့ လည်းကောင်း

ပြေးလာ၏။ ခိုက်မိသောနေရာကို လူကြီး က "ကြပ်ပူထိုး" ပေးခြင်း၊ "ချုံဖွ မန်းပေးခြင်းပြု သည့်အခါ ၌ ၎င်း၏အနာသည် ပျောက်သွားပြီဟု ထင်မှတ်တတ်လေ သည်။ တတ်သိ လိမ္မာခြင်း၊ ခွန်အားကောင်းခြင်းနှင့် ပြည့် စုံသည်ဟု ကလေး၏စိတ်တွင် ယူဆထားသော လူကြီး များက မိမိ၏အနာကို ပျောက်ကင်းအောင် မလုပ်နိုင်ဟု ဆိုလျှင် ကလေးသည် ထို စကားကို မည်သည့်နည်းနှင့်မျှ အယုံအကြည်ရှိလိမ့်မည် မဟုတ်ချေ။ မိခင်က အနာကို ကြင်နာယုယစွာ ပွတ်သပ်ပေးခြင်း၊ ပျောက်လိမ့်မည်ဟု အားပေးနှစ်သိမ့်ခြင်း ပြုကာမျှ ဖြင့်ပင် ကလေးအဖို့ စိတ် သက်သာရာရလျက် ရှိပေပြီ။ မိမိ၏အနာသည် ပျောက် ကင်းပြီ ဟု ထင်မှတ်လျက် ရှိလေပြီ။ ဆေးသမားများသည် နာတာရှေ့အတွက် အသုံးဝင်လျက်ရှိ သည်ဟု ဆိုခြင်းမှာ လည်း ဤနည်းအတိုင်းသာ ဖြစ်လေသည်။ ၎င်းတို့သည် နာတာ ရှာ၏အနာကို "ကြပ်ပူထိုး" ပေးခြင်း၊ "ံ" မန်း ပေးခြင်း၊ ရထားသမားကို အာရဗတ်လမ်းရှိ ဆေးဆိုင်များ သို့ လွှတ်၍ တစ်ဘူးလျှင် ငွေတစ်ကျပ်နှင့် ပြားခုနစ်ဆယ် ပေးရသော ဘူး လှလှကလေးဖြင့် ထည့်ထားသည့် ဆေးမှုန့် များ၊ ဆေးလုံးများကို သောက်လျှင် ပျောက် မည်ဟု ပြောဆိုခြင်း၊ ဆေးမှုန့်ကလေးများကို တစ်စက္ကန့်မျှ နောက် ကျခြင်း စောခြင်းမရှိ ဘဲ နှစ်နာရီခြားတစ်ခါ ရေနွေးနှင့် ( တိုက်ရမည်ဟု ပြောဆိုခြင်း စသည့်နည်းလမ်းများဖြင့် နာတာရှာကို နှစ်သိမ့်မှုပေးလျက်ရှိကြ၏။ စိတ်သက်သာ ရာ ရအောင်ပြုလျက်ရှိကြ၏။ သို့ရာတွင် အမှန်၌ကား ဆေးသမားဆိုသူများသည် လူနာ၏ ရောဂါဝေဒနာကို တကယ် ပျောက်ကင်းအောင် စွမ်းဆောင်နိုင်သူများ မဟုတ် ကြချေ။ ထို့ကြောင့် လောက၌ ဆေးသမားများ၏အသုံး ဝင်ခြင်းသည် ရောဂါဝေဒနာကို ပျောက်ကင်းအောင် ကုသပေး နိုင်သောကြောင့် အသုံးဝင်ခြင်းမျိုး မဟုတ်ဘဲ လူနာနှင့်တကွ မကင်းရာမကင်းကြောင်း ပုဂ္ဂိုလ်တို့ကို စိတ်သက်သာမှုရအောင် နှစ်သိမ့်ပေးနိုင်သောကြောင့် အသုံး ဝင်လျက် ရှိ ခြင်းမျိုးသာ ဖြစ်လေသည်။ ""မန်းပေး ခြင်း၊ "ကြပ်ပူထိုးပေးခြင်း စသည့်နည်းလမ်းများ ဖြင့် ကလေးတစ်ယောက်ကို နှစ်သိမ့်ပေးသော လူကြီးတစ် ယောက်၏ အသုံးဝင်ခြင်းမျိုး သာ ဖြစ်လေသည်။ ထို့ထက် ဘာမျှမပိုချေ။

လူသည် တစ်နည်းမဟုတ်လျှင် တစ်နည်းဖြင့် မိမိ၏ စိတ်သက်သာမှုကို ရှာကြံ တတ်လေသည်။ နှစ်သိမ့်မှု ကို မျှော်လင့်တောင့်တတတ်လေသည်။ ဤနည်းအားဖြင့် သာ

လူသည် အသက်ရှင်နေနိုင်ခြင်း ဖြစ်ပေသည်။ သို့ ဖြစ်ခြင်းကြောင့် လူ၏စိတ်သက်သာမှု ကို ဖန်တီးပေးသော အကြောင်းများသည်လည်း လောကတွင် ရှိရမည်သာ ဖြစ်လေသည်။

နာတာရှာတို့ အိမ်သားများသည် နာတာရှာအား နာရီခြား၍ တိုက်ရသောဆေးလုံး များ တိုက်ကျွေးခြင်း၊ ရေနွေးနှင့် တိုက်ရသောဆေးများ တိုက်ကျွေးခြင်း၊ သင့် လျော်သည့် ခတ်စာများကို ကျွေးမွေးခြင်း၊ သမားတော် များ၏ ညွှန်ကြားချက်များကို တိကျစွာ လိုက်နာခြင်းဖြင့် မအားလပ်နိုင်အောင်ဖြစ်ကာ စိတ်၏သက်သာမှုကို ရှာဖွေ လျက် ရှိကြ ပေသည်။ မြို့စားကြီး ရော့စတော့ဗ်၊ မြို့စား ကတော်ကြီးနှင့် ဆွန်ယာတို့အဖို့ ဤနည်းဖြင့် စိတ်၏ သက်သာမှုကို ရှာဖွေခြင်းမပြုလျှင် အခြားမည်သည့်နည်း ဖြင့် ရှာဖွေရဦးမည် နည်း။

မြို့စားကြီး ရော့စတော့ဗ်သည် ချစ်လှစွာသော သမီးထွေး ကျန်းမာစေရန်အတွက် ငွေဒင်္ဂါးတစ်ထောင် ကုန်ကျခဲ့ပြီး ဖြစ်လေသည်။ အကယ်၍ ဤမျှငွေကုန်ခံ၍ ကုသသည့် တိုင် မပျောက်သေးဟုဆိုလျှင် ရှိသမျှစည်းစိမ် ပြုတ်သည့်အထိ နိုင်ငံခြားသို့ သွားရောက် ကုသရန် လိုသည် ဆိုလျှင်လည်း သွားရောက် ကုသပေးရန် အဆင်သင့်ဖြစ် လေသည်။ ၎င်း၏စိတ်၌ သမားတော်ဖရီဆိနှင့် မူဒရော့ဗ် တို့သည် သမားတော် မက်တီးဗီးယားနှင့် သမားတော် ဖဲလားတို့ထက် တတ်ကျွမ်းသည်ဟု အထင်ရောက်လျက် ရှိလေသည်။ ဤသို့ ဖြင့် မြို့စားကြီး ရော့စတော့ဗ်သည် ငွေကို ရေလိုဖြုန်းခြင်း၊ ဤသမားတော်က ထို သမားတော် ထက် ကျွမ်းကျင်သည်ဟုထင်ခြင်း၊ ဤမျှ ငွေကုန်ကြေးကျ ခံ၍ ကုသလျှင် နာတာရှာ၏ ရောဂါပျောက်ကင်းလိမ့် မည်ဟု မျှော်လင့်ခြင်း စသည်တို့ဖြင့် စိတ်၏သက်သာမှု ကို ရှာကြံလျက်ရှိလေသည်။ မြို့စားကြီး ရော့စတော့ဗ် အဖို့ ဤနည်း များဖြင့် စိတ်၏သက်သာမှုကို ရှာကြံခြင်း မပြုလျှင် အခြားမည်သည့်နည်းဖြင့် ရှာဖွေရဦး မည်နည်း။

မြို့စားကတော်ကြီးသည် နာတာရှာက ဆေး သောက်ရန် ငြင်းဆန်သည့်အခါများ၌ ဤသို့ အချိန်မှန် ဆေးသောက်ခြင်း မပြုပါက ရောဂါပျောက်မည် မဟုတ်ဟု လည်းကောင်း၊ အဆုတ်ရောင်ရောဂါ ဖြစ်လိမ့်မည်ဟု လည်းကောင်း၊ မိမိကိုယ်တိုင်

နားလည်ခြင်းမရှိသော ရောဂါအမျိုးအမည်များကို ပြောဆိုခြင်း၊ လူနာအားဆရာ ဝန်များ၏ ညွှန်ကြားချက်များကို တိကျစွာ လိုက်နာရန် ဖြည်တွန်တောက်တီးခြင်း၊ ဤသို့ လိုက်နာသောကြောင့် ရောဂါပျောက်လိမ့်မည်ဟု မျှော်လင့်ခြင်း စသည်တို့ဖြင့် စိတ်၏သက်သာမှုကို ရှာဖွေလျက်ရှိလေသည်။ မြို့စား ကတော်ကြီးအဖို့ ဤနည်းများဖြင့် စိတ်၏ သက်သာခြင်းကို ရှာဖွေခြင်း မပြုလျှင် အခြားမည်သည့် နည်းဖြင့် ရှာဖွေရ ဦးမည်နည်း။

ဆွန်ယာသည် သမားတော်များ၊ ဆရာဝန်များ၏ ညွှန်ကြားချက်များအတိုင်း စောင့်ရှောက်ရန် ပထမသုံးည စလုံးပင် အဝတ်အစားပင် မလဲဘဲ ထိုင်၍စောင့်ခြင်း၊ ရွှေရောင်ဆေးဘူးကလေးများထဲမှ ဆေးလုံးကလေးများကို တိုက်ကျွေးရန် အချိန်လွဲသွားမည် စိုးသည့်အတွက် ထိုသုံးည စလုံး တစ်ရေးမျှ မအိပ်ဘဲ ကြည့်ရှုခြင်း၊ ဤသို့ ကိုယ်ဖိရင်ဖိ ပြုစုသောကြောင့် မကြာမီ ပြန်၍ ကျန်းမာလာလိမ့် မည်ဟု မျှော်လင့်ခြင်းစသည်တို့ဖြင့် စိတ်၏သက်သာမှု ကို ရှာဖွေလျက် ရှိလေသည်။ ဆွန်မာ့အဖို့၌လည်း ဤ နည်းလမ်းများဖြင့် စိတ်သက်သာခြင်းကို ရှာဖွေခြင်း မပြုရလျှင် အခြားမည်သည့်နည်းဖြင့် ရှာဖွေရဦးမည်နည်း။

၎င်းတို့အားလုံးအဖို့တွင် ပူပန်ကြောင့်ကြခြင်း ကင်း၍ စိတ်၏သက်သာမှုကို ရစေရန်မှာ ဤနည်းများမှ လွဲ၍ အခြားနည်းလမ်းများ မရှိချေ။ ၎င်းတို့သည် စိတ် ၏သက်သာခြင်းကို ရရှိစေရန် ဤနည်းလမ်းများဖြင့် လူမမာကို ပြုစုလျက်ရှိကြ၍ ဤသို့ပြုစုခြင်းအားဖြင့်လည်း စိတ်၏သက်သာခြင်းကို ရရှိနေကြလေသည်။

နာတာရှာအဖို့၌လည်း မိမိရောဂါအတွက် ဆေး မရှိဟု ပြောဆိုလျက်ရှိသည့်တိုင် အချိန်မှန်ဆေးသောက် ရမည်ကို သိရခြင်း၊ မိမိအတွက် အိမ်ရှိလူကုန် အအိပ်ပျက်၊ အစားပျက်ခံကာ ပြုစုကြခြင်းကို မြင်ရသည့်အတွက် ကျေနပ်လျက်ရှိလေသည်။ ထိုမျှမက သမားတော်များ၏ အညွှန်းကို လိုက်နာရန် ငြင်းပယ်ခြင်းဖြင့် မိမိ၏ရောဂါ သည် ဆေးဝါးများဖြင့် ကုသနိုင်သည်ဟု မယုံကြည်ရုံမျှ မက မိမိအသက်ကိုလည်း တန်ဖိုးမထားတော့ပါဟူသော သဘောဖြင့် နွဲ့ဆိုး ဆိုးပြရသည့်အတွက်လည်း ကျေနပ် လျက်ရှိလေသည်။

သမားတော်သည် နေ့တိုင်းရောက်လာကာ နာတာ ရှာ၏ လက်ကောက်ဝတ်ကို သွေးစမ်းကြည့်ခြင်း၊ လျှာ ထုတ်ခိုင်း၍ ကြည့်ခြင်း စသည်တို့ကို ပြုလုပ်ပြီးနောက် နာတာ ရှာ၏ ညှိုးငယ်ပူဆွေးလျက်ရှိသော မျက်နှာကိုပင် ထောက်ထားခြင်းမရှိဘဲ ရယ်စရာ မောစရာများကို နောက် ပြောင် ပြောဆိုလေ့ရှိ၏။ သို့ရာတွင် လူမမာခန်းထဲမှ ထွက်လာခဲ့၍ မြို့စားကတော်ကြီးနှင့် တွေ့လိုက်သည်နှင့် တစ်ပြိုင်နက် သမားတော်ကြီးသည် များစွာ အရေးကြီးသော မျက်နှာထားကို ဆောင်လိုက်၍ ခေါင်းကို ဖြည်းညင်းစွာ ယမ်းလိုက်ရင်း နာတာရှာ၏အခြေအနေမှာ စိုးရိမ်ရသေး ကြောင်း၊ မိမိ နောက်ဆုံးပေးသောဆေးကို တိုက်ကျွေး လျှင် သက်သာလိမ့်မည်ဟု မျှော်လင့်ကြောင်း၊ အခြေအနေ ကို စောင့်ကြည့်ရဦးမည် ဖြစ်ကြောင်း၊ နာတာရှာ၏ရောဂါ မှာ အဓိကအားဖြင့် စိတ္တဇဖြစ်ကြောင်း၊ သို့သော် စကား မဆုံးမီ၌ မြို့စားကတော်ကြီးသည် သမားတော်ကြီး၏ လက်ထဲသို့ ရွှေဒင်္ဂါးတစ်ပြားကို မသိမသာ ထည့်လိုက်ပြီး ဖြစ်လေသည်။ ထို့နောက်တွင်ကား မြို့စားကတော်ကြီးသည် သမားတော်ကြီး လက်ထဲသို့ ရွှေဒင်္ဂါးတစ်ပြား ထည့်လိုက်ခြင်းကြောင့် နာတာ ရှာ၏ရောဂါ ပျောက်ကင်း သွားတော့မည်ဟု များစွာ စိတ်သက်သာရသွားဟန် လက္ခဏာဖြင့် လူမမာထံသို့ ပြန်လာခဲ့လေသည်။

နာတာရှော့ရောဂါ၏ လက္ခဏာများမှာ အစား အသောက်နည်းခြင်း၊ အအိပ်အနေ နည်းခြင်း၊ ချောင်းဆိုး ခြင်း၊ စိတ်အားညှိုးငယ်လျက်ရှိခြင်း စသည်တို့ဖြစ်၏။ သမားတော်ကြီးများက နာတာရှာမှာ ဆေးဝါးကုသခြင်း မပြုဘဲ ပြန်၍ ကျန်းမာလာနိုင်မည်မဟုတ်ဟု ဆိုကြသည်။ နာတာရှာအား အသက်ရှူကျပ်လှသော မော်စကိုတွင် ဆက်လက် နေထိုင်ရမည်ဟုလည်း ပြောကြသည်။ ထို့ ကြောင့် မြို့စားကြီး ရော့စတော့ဗ်မိသားစုသည် ၁၈၁၂ခု နွေရာသီတွင် ကျေးတောသို့ မပြန်နိုင်တော့ချေ။

နာတာရှာအဖို့ ဘူးကလေးများ၊ သေတ္တာကလေး များထဲမှ ဆေးလုံးများ၊ ဆေးမှုန့်များ၊ ဆေးရည်များကို သောက်ရသည်မှာလည်း များလှပေပြီ။ ဆေးသေတ္တာ ကလေးများ၊ ဆေးဘူးကလေးများကို စုဆောင်းလေ့ရှိသော မဒမ်ရှော့မှာ သိမ်းစရာမရှိအောင် များလှလေပြီ။ နာတာရှာ အဖို့ နေသားကျလျက်ရှိသော ကျေးလက်တောရွာနှင့် ဝေးခဲ့သည်မှာလည်း ကြာခဲ့လေပြီ။ သို့တိုင်အောင် နာတာ ရှာမှာ နုနယ်ပျိုမျစ်လျက် ရှိပါသေးသည်။

နေ့စဉ် တွေ့ ကြုံလျက်ရှိသည့် အခြင်းအရာများကြောင့် နာတာရှာ၏ ပူဆွေးသောက ဖြစ်ရခြင်းတို့သည် ယခင်ကလောက် ဖိစီး နှိပ်စက်ခြင်း မရှိတော့ဘဲ တဖြည်းဖြည်း လျော့ပါးသွားကြပြီ ဖြစ်လေသည်။ ဤသို့ဖြင့် နာတာရှာသည် ရုပ်လက္ခဏာ ( အားဖြင့် ထူထူထောင်ထောင် ဖြစ်လာခဲ့လေသည်။

# အခန်း ၁၇

နာတာရှာမှာ တည်ငြိမ်စပြုလာပြီ ဖြစ်သော်လည်း ယခင် ကဲ့သို့ ရွှင်ရွှင်လန်းလန်း မရှိသေးချေ။ နာတာရှာသည် ကပွဲများ၊ အလှပြပွဲများ၊ ဇာတ်သဘင်များ၊ ကဇာတ်များ စသော အပေါ်ယံ ပျော်ရွှင်မှုဟူသမျှကို ဝေးစွာရှောင်၏။

နာတာရှာအဖို့၌ ရယ်လျှင်လည်း ငိုသံမပါသော အခါဟူ၍ မရှိဖူးသေးချေ။ ရယ်လိုက်သည်နှင့်တစ်ပြိုင်နက် အလိုလို မျက်ရည်တွေ လည်လာလျက် ငိုသံပါလာကာ ရင်ထဲတွင် တလှိုက်လှိုက် ဖြစ်လာတတ်သည်။ သီချင်းဆိုမည်ကြံလျှင် လည်း ထို့အတူသာ ဖြစ်သည်။ ထိုမျက်ရည်များကား နောင်တကြောင့်ဖြစ်သော မျက်ရည်၊ မည်သည့်အခါမျှ ပြန်လာတော့မည် မဟုတ်သော သန့်စင်သည့်ဘဝကို အောက်မေ့တသခြင်းကြောင့် ဖြစ်သောမျက်ရည်၊ ပျော်စရာ ကောင်း၍ နုနယ်ငယ်မျစ်သောဘဝကို အကျိုးမဲ့ပျက်စီးစေ ခဲ့လေခြင်းဟု ယူကျုံးမရခြင်းကြောင့် ဖြစ်သော မျက်ရည် တို့ပေတည်း။ ဝမ်းနည်း ယူကျုံးမရ ဖြစ်လျက်ရှိသည့်အခါ များ၌ အထူးသဖြင့် ရယ်မောခြင်းနှင့် သီချင်းဆိုခြင်းသည် နာတာရှာအဖို့ ဖရုသဝါစာစကားကို ဆိုရသကဲ့သို့ သာယာ နာပျော်ဖွယ်ကောင်းခြင်း ကင်းခဲ့လေပြီ။ ကန္တဲ့ကလျ ပြီ ( တီတီ ပြုမူနေထိုင်လိုစိတ်တို့လည်း မရှိတော့ပြီ။ ထို့ကြောင့် ပြီတီတီဟန်မျိုးမပေါက်ရန် အထူးတလည် ချုပ်တည်းထား ရန်လည်း မလိုတော့ပြီ။ နာတာရှာသည် ယောက်ျားဟူသမျှ  ကို စိတ်နာခဲ့လေပြီ။ ၎င်း၏စိတ်၌ ယောက်ျားဟူသည် မိန်းမလျှာ ပျော်တော်ဆက် နာစတာစယာထက် ဘာမျှမပို သော သတ္တဝါများသာတကားဟု ထင်မှတ်ခဲ့လေပြီ။ နာတာရှာ၏ရင်ထဲမှ တစ်စုံတစ်ခုသော ခံစားချက် တစ်မျိုး သည် နာတာရှာအား ပျော်ရွှင်မှုဟူသမျှတို့နှင့် ကင်းဝေး အောင်

တားဆီး စောင့်ကြပ်နေသကဲ့သို့ ရှိ၏။ နာတာရှာ၏ အပူအပင်ကင်းမဲ့သော အပျိုဝင်ဘဝ သည် မျှော်လင့်ချက် တို့ဖြင့် ပြည့်လျှမ်းခဲ့၏။ ပျော်ရွှင်မြူးထူးဖွယ်တို့ဖြင့် အတိ ပြီးခဲ့၏။ ယခု ထိုအရာတို့ မရှိတော့ပြီ။ မနှစ်ဆောင်းဦး ပေါက်က ပျော်ပျော်ပါးပါးနေခဲ့ကြပုံ၊ တောလိုက်ကြပုံ၊ ဦးတော်အိမ်တွင် စခန်းချကြပုံ၊ နီကိုလေနှင့် ပြန်လာစဉ် နာတာလူး ပွဲတော်တွင် ပျော်ခဲ့ကြပုံတို့ကို မကြာခဏ ပြန်တွေးမိ၏။ သို့တွေးမိတိုင်းလည်း အဟောင်းတို့သည် အသစ်ဖြစ်ကာ ပူလောင်ကြေကွဲခြင်း ဖြစ်ရ၏။ ဤမျှ ပျော်ဖွယ်ကောင်းသော ဘဝကို တစ်နေ့တစ်ရက်မျှပင် ပြန်၍ရလျှင် မည်မျှ ကောင်းမည်နည်း။ ထိုတစ်ရက်ကို ပြန်ရမည်ဆိုက မည်သည့်အရာဖြင့် လဲလှယ်ရစေကာမူ ဘာအပန်းကြီးဦးမည် နည်းဟု တွေးမိ၏။ သို့ရာတွင် ထိုပျော်ရွှင်ဖွယ်ကောင်းသောဘဝ၊ မြူးထူးဖွယ်ကောင်းသော ဘဝ၊ သန့်စင်၍ မြတ်နိုးဖွယ်ကောင်းသော ဘဝသည် ပြန်မလာတမ်း လွန်သွားခဲ့လေပြီ။ ထိုအချိန်၌ နာတာရှာ၏ ဝိတ်သည် နာတာရှာကိုလည်း လိမ်လည် လှည့်စား၍ မရတော့ပြီ။ အပူအပင် မရှိ လွတ်လပ်စွာ နေထိုင်နိုင်ခြင်း၊ မည်သည့်ပျော်ရွှင်မှု မျိုးကိုမဆို အလွယ်တကူ ခံစားနိုင်ခြင်း စသည့် တန်ခိုး သတ္တိတို့လည်း နာတာရှာ၌ ပျက်ပြယ်ခဲ့ပြီ။ သို့တိုင်အောင် နာတာရှာသည် ဤနည်းဖြင့်ပင် အသက်ရှင် နေရပါဦးမည်။

ယခင်ကမူ မိမိ၏အဖြစ်သည် ဤမျှလောက် မဆိုးသေးဟု နာတာရှာ တွေးခဲ့၏။ သို့ရာတွင် ယခုမူကား နာတာရှာ ဤသို့ မတွေးတော့ပြီ။ မိမိ၏အဖြစ်သည် အဆိုးတကာတို့အနက် အဆိုးဆုံးသို့ ရောက်ခဲ့လေပြီ။ ကမ္ဘာလောကကြီးတစ်ခုလုံးရှိ အဖြစ်ဆိုးသူများကို တန်းစီ ကြည့်လျှင် မိမိသည် နံပါတ်တစ်နေရာကို ရလိမ့်မည်ဟု ဘွေးကာ စိတ်လျှော့လိုက်လေပြီ။ ဤသို့ အဆိုးဆုံးထား၍ ဆွေးလိုက်ခြင်းဖြင့် ကိုယ့်စိတ်ကိုယ် ဖြေတတ်နေလေပြီ။ သို့ရာတွင် ဤမျှလောက် ဆိုးရုံဖြင့် နာတာရှာ မကျေနပ် သေးပါ။ မိမိ၏လျှပ်ပေါ်သောအဖြစ်၊ သစ္စာမဲ့သောအဖြစ် သည် ထိုမျှမကသော အဆိုးမျိုးကို ခံထိုက်သည်ဖြစ်ရာ ထို့ထက်ပို၍ဆိုးသော အဖြစ်မျိုးကို နာတာရှာ ကြုံတွေ့ လိုပါသေးသည်။ သို့သော်လည်း နောက်ထပ် ဘာမျှ ဖြစ် မလာတော့ပါ။ နာတာရှာအဖို့ လူ့ဘဝတွင် ဘာမျှပျော်ရွှင် မှုမရှိတော့သော်လည်း ၎င်း၏ဘဝသည် သွားမြဲသွားလျက် ရှိပါသည်။ နာတာရှာသည် မိမိအတွက် သူတစ်ပါးတွင် ဝန်ထုပ်ဝန်ပိုး မဖြစ်စေရန်၊ အနှောင့်အယှက်မဖြစ်စေရန် သတိ

ကြီးစွာထား၍ နေထိုင်၏။ မည်သည့်အရာကိုမျှလည်း လိုချင် တောင့်တခြင်း မရှိတော့ပြီ။ အိမ်သူအိမ်သားများ နှင့်လည်း ခပ်ကင်းကင်း ခပ်ရှောင်ရှောင်နေထိုင်ခြင်း ပြု၏။ မောင်ငယ် ပီတာနှင့် နေရခြင်းကိုမူ ပျော်သလိုလို ရှိ၏။ အခြားသူများနှင့် နေရခြင်းထက် ပီတာနှင့်နေရခြင်း ကို နှစ်သက်၏။ ၎င်းတို့ မောင်နှမနှစ်ယောက်တည်း ရှိ သောအခါ များ၌ တစ်ကြိမ်တလေ ရယ်မောတတ်၏။ နာတာရှာသည် အိမ်ပြင်သို့လည်း မထွက် တော့ချေ။

မိမိတို့ထံသို့ လူပေါင်းများစွာ လာရောက်လည်ပတ် ကြသည့်အနက် ပီယာတစ် ယောက်လာခြင်းကိုကား ဝမ်း သာမိသည်။ နာတာရှာအား ကြင်နာယုယစွာဆက်ဆံ၍ လေးစားစွာ ပြောဆိုရာ၌ ပီယာထက် သာလွန်မည့်သူ တစ်ယောက်မျှ မရှိသေးချေ။ နာ တာရှာသည် မိမိအား ပီယာက ဤသို့ ကြင်နာယုယစွာ ဆက်ဆံခြင်းကို အလို လို သတိထားမိကာ ပီယာနှင့် အတူနေရခြင်းကို နှစ်ခြိုက် ) မိ၏။ ပီယာက မိမိအား ပြုမူ ဆက်ဆံပုံမှာ တမင်အားထုတ် ၍ ဆက်ဆံရခြင်း မဟုတ်ဟုလည်း နာတာရှာ ယူဆသည်။ ပီယာသည် လူအားလုံးကို ဤသို့ အညီအမျှ ကြင်နာယုယ စွာ ဆက်ဆံခြင်း ဖြစ် သောကြောင့် မိမိအား ယခုကဲ့သို့ ကြင်နာယုယစွာ ဆက်ဆံခြင်းကို အထူးတလည် အမွှန်း တင် ချီးကျူးစရာ မလိုဟုလည်း နာတာရှာ အောက်မေ့မိ သည်။ တစ်ခါတစ်ရံ မိမိနှင့် တွေ့ဆုံ၍ မိမိအား စိတ်လက် ကြည်သာလာအောင် စကားဆိုမည်ပြုသည့်အခါများ၌ ပီ ယာတွင် ရှက်ကြောက်သည့်လက္ခဏာဖြင့် ခပ်အမ်းအမ်း ဖြစ်နေခြင်းမျိုးကို တွေ့ရတတ် သည်။ တစ်ခါတစ်ရံ၌လည်း သူပြောလိုက်သောစကားကြောင့် နာတာရှာ စိတ်ညစ်သွား လေမည်လောဟု စိုးရိမ်သည့်လက္ခဏာမျိုးကို တွေ့ရတတ် ၏။ နာတာရှာသည် ဤ အခြင်းအရာကို သတိပြုမိလျက် ထိုအခြင်းအရာသည် မိမိအပေါ်တွင်မက လူတိုင်းအပေါ် တွင် ထားရှိသော ပီယာ၏ ချစ်ခင်ကြင်နာမှုနှင့် ရှက် ကြောက်မှုတို့၏ ပြယုဂ် ဖြစ်သည်ဟု ယူဆပေသည်။ ပီယာက မိမိသည် လွတ်လပ်သူတစ်ယောက် ဖြစ်ခဲ့ပါလျှင် နာတာ ရှာ၏အချစ်ကို တောင်းခံမိမည်မှာ အမှန်ဖြစ်သည် ဟု တစ်ခါက အမှတ်မထင် ပြောဆိုခဲ့ ဖူးသော်လည်း နောက်၌ကား ထိုအကြောင်းနှင့် စပ်လျဉ်း၍ တစ်ခွန်းမျှ မပြောတော့ချေ။ တစာစာငိုကြွေးလျက်ရှိသော ကလေး ငယ်တစ်ယောက်အား ရေရာခြင်း မရှိသောစကား

များဖြင့် ချော့မော့နှစ်သိမ့်သကဲ့သို့ ပီယာသည်လည်း မိမိအား ထို စကားများဖြင့် ချော့မော့ နှစ်သိမ့်ခဲ့ခြင်းသာ ဖြစ်သည်ဟု နာတာရှာ ထင်မှတ်ခဲ့၏။ ဤသို့ ထင်ခဲ့ခြင်းမှာ ပီယာသည် မယားလက်ရှိ လူအိုတစ်ယောက် ဖြစ်နေခြင်းကြောင့် မဟုတ်ဘဲ ပီယာနှင့် ဆက်ဆံရာ၌ မိမိဘက်က ကိုယ်ကျင့် သိက္ခာကို စောင့်ထိန်းရမည်ဟူသော အတိတရားကြောင့် သာ ဖြစ်ပေသည်။ (အနာတိုလီနှင့် ဆက်ဆံတုန်းက နာတာရှာသည် ထိုအတိတရားကို ဘေးချိတ်ခဲ့ဖူးလေပြီ။) ဤသို့ ကိုယ်ကျင့်သိက္ခာတည်းဟူသော တံတိုင်းကြီးခြား လျက် ရှိခြင်းကြောင့်လည်း မိမိနှင့် ပီယာတို့သည် တစ် ဦးနှင့်တစ်ဦး ရိုးသားစွာ ခင်မင်လျက်ရှိရာမှ မေတ္တာသက်ဝင် သည့် အခြေမျိုးသို့ ဆိုက်ရောက်နိုင်လိမ့်မည်ဟု နာတာရှာ တစ်ခါမျှ မစဉ်းစားခဲ့ဖူးချေ။ မိန်းမနှင့်ယောက်ျား အများ အပြား၌ တစ်ဦးကိုတစ်ဦး ချစ်ကြသော်လည်း အကြောင်း ကြောင်းကြောင့် မျိုသိပ်ထားရသဖြင့် ရိုးရိုးသားသား ခင်မင်ခြင်းလည်းမက၊ သမီးရည်းစားလည်း မကျသော နူးညံ့သိမ်မွေ့သည့် စိတ်ကူးယဉ် မိတ်ဆွေ ဆက်ဆံရေးမျိုး ရှိတတ်ခြင်းကို နာတာရှာ မကြာခဏ တွေ့မြင်ဖူးရာ မိမိနှင့် ပီယာတို့၏ နှစ်ဦးကြား၌ ဤသို့သော ဆက်ဆံရေး မျိုးကိုပင် နာတာရှာ ခွင့်မပြုနိုင်ချေ။ ပီယာအနေနှင့်ကား ပို၍ပင် ထိန်းသိမ်းလိမ့်မည်ဟု နာတာရှာ ယူဆပေသည်။

ရှင်ပေတရုပွဲတော် မတိုင်မီ၌ မြို့စားကြီး ရော့ စတော့ဗ်တို့၏ ခြံနီးချင်းဖြစ်သူ အိုင်ဗင်နိုဗနာဘီလိုဗာ သည် မော်စကိုသို့ ဘုရားဖူး ရောက်လာလေသည်။ ၎င်း က နာတာရှာအား ခရစ်ယာန်ပွဲတော် နီးလာပြီဖြစ်သည့် အတွက် ဥပုသ်ရက်ရှည်စောင့်ရန် အကြံပေးခြင်း ပြုလေ သည်။ နာတာရှာကလည်း ထိုအကြံကို သဘောကျ၏။ သမားတော်များက နာတာရှာအား နံနက်စောစော အပြင် သို့ မထွက်ရန် တားမြစ်ထားသော်လည်း နာတာရှာမှာ ဥပုသ်ရက်ရှည်စောင့်ခြင်းနှင့် ခရစ်ယာန် ရေဖျန်းမင်္ဂလာပွဲ တော် တက်ရောက်ခြင်းကို ခါတိုင်းကဲ့သို့ အိမ်တွင် မပြု လုပ်လိုဘဲ အိုင်ဗင်နိုဗနာဘီလိုဗာနှင့်အတူ သုဓမ္မာဇရပ်သို့ နေ့တိုင်း သွားရောက်ပြုလုပ်လိုသည်ဟု ပူဆာလျက်ရှိကာ နံနက်ဝတ်တက်ခြင်း၊ ညနေဝတ်တက်ခြင်း၊ ညဝတ်တက် ခြင်းကို တစ်ခုမျှ မပျက်ရအောင် ဆောင်ရွက်မည်ဟုလည်း ပြောဆိုလျက်ရှိ၏။

မြို့စားကတော်ကြီးမှာ နာတာရှာ ယခုကဲ့သို့ စိတ်အားထက်သန်လာခြင်းကို တွေ့ ရသဖြင့် ဝမ်းမြောက် လျက်ရှိ၏။ မြို့စားကတော်ကြီးသည် ဆေးဝါးကုသခြင်း ဖြင့် သမီး ထွေး၏ရောဂါများ သက်သာခြင်းကို မတွေ့ရ သည်၌ ဆေးဝါးထက် ဘုရားသာလျှင် သမီး ထွေး၏ရောဂါ ကို ကုသနိုင်လိမ့်မည်ဟု မျှော်လင့်လျက် ရှိလေသည်။ ထို့ကြောင့်လည်း သမီးထွေး၏ဆန္ဒကို လိုက်လျောကာ ( ဘီလိုဗာထံတွင် အပ်နှံလိုက်၏။ ဤကိစ္စကိုလည်း သမား တော်အား ဖွင့်မပြောဘဲ ထားလိုက်သည်။ ဘီလိုဗာသည် နံနက်သုံးချက်တီးအချိန် တွင် နာတာရှာကို လာရောက် နှိုးလေ့ရှိသော်လည်း အများအားဖြင့် နာတာရှာမှာ နိုး၍ နေခြင်းကို တွေ့ရတတ်၏။ နာတာရှာသည် နံနက်ဝတ် တက်မမီမည်ကို စိုးရိမ်လျက်ရှိ ကာ အစောကြီး နိုးနောက် သည်။ နာတာရှာသည် အလျင်အမြန် ကိုယ်လက်သန့်စင် ပြီး နောက် အဝတ်ဟောင်းကို ဝတ်၍ ပဝါကို ခေါင်းတွင် စည်းကာ လိုက်လာတတ်သည်။ သုဓမ္မာဇရပ်သို့ ၎င်းတို့ သွားသောအချိန်မှာ ဝေလီဝေလင်းအချိန် ဖြစ်၏။ နံနက် ခင်းလေ သည် ခိုက်ခိုက်တုန်အောင် အေးမြလျက်ရှိသည်။ နာတာရှာတို့နှစ်ဦးသည် အရုဏ်ခြည် ပက်ဖျန်း၍ထားသော တိတ်ဆိတ် ခြောက်သွေ့လျက်ရှိသည့် လမ်းမအတိုင်း သုဓမ္မာဇရပ် သို့ လာခဲ့ကြ၏။ ဘီလိုဗာ၏ အကြံပေးချက် အရ နာတာရှာသည် မိမိတို့ သုဓမ္မာဇရပ်တွင် သီလမယူဘဲ အခြားသုဓမ္မာဇရပ်တွင် သီလယူခြင်း ပြုလေသည်။ ဘာသာတရား ကိုင်းရှိုင်းသော ဘီလိုဗာ၏အဆိုအရ ထို သုဓမ္မာဇရပ်တွင် သိက္ခာပုဒ်နှင့် ပြည့်စုံ၍ ကြည်ညို လေးစား ဖွယ်ကောင်းသော ဘုန်းတော်ကြီးတစ်ပါးက သီလပေး သည်ဟု ဆိုလေသည်။ သုဓမ္မာဇရပ်တွင် လာရောက်  သီလယူသူတို့မှာ မများလှချေ။ နာတာရှာသည် ဘီလိုဗာ နှင့်အတူ မယ်တော်မာရီ၏ပုံတော်ရှေ့တွင် နေရာယူလေ့ ရှိ၏။ ဤကဲ့သို့ ကြည်လင်သော နံနက်ခင်း၌ ရှေ့တွင် ထွန်းညှိပူဇော်ထားသော ဖယောင်းတိုင်မှ မီးရောင်များနှင့် ပြတင်းပေါက်မှ ဖြာကျသော အရုဏ်ခြည်တွင် သပ္ပာယ် လျက်ရှိသော မယ်တော်မာရီ၏ မျက်နှာတော်ကို ဖူးမြော် ရသည်မှာ စိတ်ထဲတွင် ငြိမ်းချမ်းခြင်းရှိလှသည်။ နာတာရှာ သည် ငြိမ်းချမ်းသောနှလုံးသားဖြင့် တရားတော်လာ စကားလုံးများကို နားထောင်နေမိ၏။ တရားတော်၏ အနက်ကို သိလာသည့်အချိန်၌ တရားတော်တွင် ပါရှိသည့် အမျိုးမျိုး အထွေထွေသော အနက်အဓိပ္ပာယ်များသည် နာတာရှာ၏ စိတ်ထဲတွင် ဖြစ်ပေါ်လျက်ရှိ သော ခံစားချက် များနှင့် ရောထွေးယှက်တင် ဖြစ်လျက်ရှိခြင်းကြောင့် ကြည်နူးခြင်း ဖြစ်ရ

သည်။ နားမလည်သည့်အခါများ၌ လည်း တရားတော်၏ အနက်အဓိပ္ပာယ်များကို နားလည် လိုသော ဆန္ဒသည်ပင်လျှင် ကုသိုလ်ကို ဖြစ်စေနိုင်သည် တကားဟု အောက်မေ့၍ ကြည်နူးခြင်း ဖြစ်ရသည်။ ယင်းသို့ တရားတော်၏ အနက်အခွံဟယ်ကို နား မလည် သည့်အခါများ၌ နာတာရှာသည် ခေါင်းငုံ့၍ လက်ယှက် ထားရင်းက မိမိ၏ အကုသိုလ်များလှသော ဘဝကို ကြောက်လန့်စက်ဆုပ်လာကာ မိမိပြုသော အကုသိုလ် ဒုစရိုက်များကို ခွင့်လွှတ်တော်မူရန်၊ မိမိအား ကရုဏာ ဘော်ကို ပေးသနားရန် ဆုတောင်း မိသည်။ အထူးသဖြင့် နောင်တနှင့် ပတ်သက်သည့် တရားတော်များကို ကြားနာ ရသည့် အခါတွင် နာတာရှာသည် ဘုရားသခင်ကို ပို၍ အာရုံပြုမိသည်။ နံနက်ဝတ်တက်သွား သည့်အခါများ၌ လမ်းတွင် တံမြက်စည်းလှည်းသူများနှင့် အလုပ်ဆင်းလာ ကြသော ပန်းရန်သမားများမှအပ တစ်လောကလုံးသည် အိပ်မောကျလျက်ရှိသည်။ ထိုအခါ မျိုး၌ကား မိမိ၏အပြစ် များကို ပြုပြင်၍ရနိုင်သည်ဟူသော အသိ၊ မိမိ၏ဘဝသည် သခ်လွင် သန့်ရှင်းသော ပျော်ရွှင်သောဘဝသို့ ပြန်ရောက်နိုင် သေးသည်ဟုသော အသိတို့သည် နာတာရှာ၏ ခေါင်းထဲ သို့ ဝင်ရောက်လာတတ်ကြလေသည်။

ဤသို့ဖြင့် နာတာရှာသည် မှန်မှန် ဝတ်တက်ခြင်း၊ ဘယ်ရက်ရှည်စောင့်ခြင်းဖြင့် ရက်သတ္တပတ်တစ်ပတ်ကို လွန်ဆေးခဲ့ရာ ထိုအသိတရားများသည်လည်း တစ်နေ့ ထက် တစ်နေ့ ခိုင်မာ ရင့်သန်လာခဲ့လေသည်။ ဝတ်တက် ခြင်းကြောင့် ဖြစ်ပေါ်သော ပီတိ သောမနဿ၊ ဘီလိုဗာနှင့် အတူ သွား၍ ဝတ်တက်ရသည့်အရသာ၊ တရားတော်များ ၏ အနက်ကို တွေးတောစဉ်းစားခြင်းကြောင့် ဖြစ်သော ကြည်နူးခြင်းတို့သည် နာတာရှာ အဖို့၌ ကြီးစွာဖြစ်ရကား မိမိသည် ယခုမှ လူ့ဘဝကြီးထဲတွင် အသစ်မွေးဖွားလာ သည်ဟု ပင် မှတ်ထင်မိလေသည်။

ဥပုသ်ရက်ရှည်စောင့်၍ ရက်သတ္တတစ်ပတ် ပြည့် သည့်နေ့၌ နာတာရှာသည် အဖြူရောင် ခါသာပိတ်အင်္ကျီ ကို ဝတ်ဆင်လျက် သုဓမ္မာဇရပ်မှ အိမ်သို့ပြန်လာခဲ့၏။ ထိုနေ့ကား နာတာရှာ၏အဖို့၌ လပေါင်းများစွာအတွင်း စိတ်၏ ငြိမ်းချမ်းခြင်းကို ပထမဆုံး အပြည့်အဝ ရသည့်နေ့ ပင်တည်း။

ထိုနေ့၌ နာတာရှာကို လာရောက်ကြည့်ရှုသော သမားတော်က လွန်ခဲ့သည့် နှစ်ပတ်ခန့်က ပေးခဲ့သော ဆေးမှုန့်ကို ဆက်၍သောက်ရမည်ဟု ပြောဆိုလေသည်။

“ဒီဆေးကို မနက်တစ်ခါ ညတစ်ခါ သောက်ပါ။ အချိန်မှန်မှန်သောက်မှ ဖြစ်မယ်နော်” သမားတော်သည် မိမိ၏ဆေးတန်ခိုးကို ရိုးသားစွာ ယုံကြည်လျက် ကျေနပ် ရောင့်ရဲဟန်ဖြင့် ဆို၏။ ထို့နောက် ရွှေဒင်္ဂါးပြားကို ဆတ် ခန် လှမ်းယူလိုက်ကာ

”သိပ်လဲ စိတ်ပူမနေပါနဲ့ မြို့စားကတော်ကြီး၊ မကြာခင် နေကောင်းသွားတော့မှာပါ၊ ကျွန်တော်ပေးတဲ့ နောက်ဆုံးဆေးက တယ်ဂွမ်းတာကလား၊ ခု တော်တော် ကြီးကို လန်းလာပြီ”

မြို့စားကတော်ကြီးသည် ရွှင်ပျသော မျက်နှာထား ဖြင့် မိမိ၏လက်သည်းများကို ငုံ့ကြည့်ကာ ဧည့်ခန်းဆောင် ဘက်သို့ ပြန်လာခဲ့ရင်း “ဖွဟဲ၊ ပျောက်စေ ကင်းစေ”ဆို သောသဘောဖြင့် (ရုရှားလူမျိုးတို့၏ ထုံးစံအတိုင်း) တံတွေးကို ပျစ်ခနဲ ထွေးလိုက်လေသတည်း။

# အခန်း ၁၈

ဇူလိုင်လဆန်းလောက်၌ စစ်နှင့်ပတ်သက်၍ စိတ်မချမ်းမြေ့ ဖွယ်ကောင်းသော ကောလာဟလများသည် မော်စကိုမြို့ တွင် ပျံ့နှံ့လျက်ရှိ၏။ ဘုန်းတော်ကြီးသော ဘုရားက  နိုင်ငံသူ နိုင်ငံသားများအား ထုတ်ပြန်သော အမိန့်တော်ပြန်တမ်းတော်နှင့်တကွ ဘုန်းတော်ကြီးသော ဘုရားကိုယ် တော်တိုင် တပ်မတော်ချီတက်ရာ စစ်မြေပြင်မှ မော်စကို မြို့သို့ ကြွရောက်မည်ဆိုသည့်သတင်းကိုလည်း အုတ်အော် သောင်းတင်း ပြောဆိုလျက် ရှိကြလေသည်။ သို့ရာတွင် ဇူလိုင်လဆန်း ၁၁-ရက်နေ့တိုင်အောင် အမိန့်တော်ပြန်တမ်း ထွက်လာခြင်းမရှိသေးဘဲ ထိုအမိန့်တော်ပြန်တမ်းနှင့် ရုရှား နိုင်ငံ၏ စစ်အင်အားအခြေအနေနှင့် စပ်လျဉ်းသည့် အကြောင်းများကိုသာ ချဲ့ထွင်ပြောဆိုလျက် ရှိကြ၏။ အချို့က ဘုန်းတော်ကြီးသောဘုရား စစ်မြေပြင်တပ်မများ ထံမှ ပြန်လည်ထွက်ခွာတော်မူလာခြင်းမှာ တပ်မများ၌ အန္တရာယ် ပတ်လည်ဝိုင်းလျက်ရှိခြင်းကြောင့် ဖြစ်သည်ဟုလည်းကောင်း၊ အချို့ကမူ စမိုးလင့်နယ်ကြီးမှာ ရန်သူ ပြင်သစ်တို့ လက်အောက်သို့ကျရောက်သွားပြီဟုလည်း ကောင်း၊ အချို့ကလည်း နပိုလီယန်မှာ စစ်သည်တပ်သား တစ်သန်းမျှဖြင့် ချီတက်လာခြင်းကြောင့် ရုရှားနိုင်ငံကြီးကို နတ်သိကြားများမှအပ အခြားမည်သူကမျှ ကယ်တင်နိုင် တော့မည် မဟုတ်ဟုလည်းကောင်း အမျိုးမျိုးပြောဆိုလျက် ရှိကြလေသည်။

ဇူလိုင်လ ၁၁-ရက်နေ့ (ထိုနေ့မှာ စနေနေ့ဖြစ် သည်။)၌ ဘုန်းတော်ကြီးသော ဘုရား၏အမိန့်တော် ပြန်တမ်းသည် မော်စကိုမြို့သို့ ရောက်ရှိလာလေသည်။ သို့တိုင်အောင် အမိန့်တော်ပြန်တမ်းမှာ ပုံနှိပ်စာ မဟုတ်သေး ချေ။ ပီယာမှာ ထိုအချိန်က မြို့စားကြီး ရော့စတော့ဗ် အိမ်တွင် ရောက်ရှိနေချိန်ဖြစ်ရာ မိမိသည် ထို

အမိန့်တော် ပြန်တမ်းကို မော်စကိုမြို့ဝန် မြို့စားကြီး ရှော့စတော့ဗ်ချင် ထံမှ ရရှိမည်ဖြစ်၍ နောက်တစ်နေ့ (တနင်္ဂနွေနေ့)ညစာ စားလာလျှင် တစ်စောင်ယူလာခဲ့မည်ဟု ကတိပေးခဲ့လေ သည်။

တနင်္ဂနွေနေ့၌ မြို့စားကြီး ရှော့စတော့ဗ်တို့ အိမ် သားစုသည် ထုံးစံအတိုင်း ရာဇူမော့စကီ၏ သီးသန့်သုခမ္မာ ဇရပ်သို့သွား၍ ဝတ်တက်ခြင်း ပြုကြသည်။ ထိုနေ့မှာ ပူပြင်းလှသော ဇူလိုင်လ၏ နေ့တစ်နေ့ဖြစ်၏။ မြို့စားကြီး ရှော့စတော့ဗ်တို့ သုခမ္မာဇရပ်သို့ ရောက်၍ ရထားပေါ်မှ ဆင်းကြသောအခါတွင် နံနက် ဆယ်ချက်တီးမျှသာ ရှိ သေး၏။ သို့တိုင်အောင် ပူလောင်သောလေ၊ ဈေးသည် များ၏ အော်ဟစ်သံ၊ လမ်းသွားလမ်းလာများ၏ တောက်ပ သော နွေရာသီဝတ်စုံများ၊ လမ်းတစ်ဖက်တစ်ချက်ရှိ သစ်ပင်များမှ ဖုန်မှုန့်များ အလိမ်းလိမ်းကပ်လျက်ရှိသော သစ်ရွက်များ၊ စစ်ရေးပြ အခမ်းအနားသို့ ချီတက်လျက် ရှိသော တပ်သားများ၏ အဖြူရောင်ဝတ်စုံများနှင့် ဘင်ခရာ သံများ၊ ကျောက်လမ်းကို ရထားဘီးဖြင့် ကြိတ်ဝါးသော ( အသံများ၊ တောက်ပစူးရှ၍ ပူပြင်းသော နေရောင်ခြည် များ စသည်တို့သည် နွေရာသီ၏ပျင်းရိငြီးငွေ့ဖွယ် ကောင်း ခြင်းကို ဖော်ပြလျက် ရှိကြရုံမက ပူပြင်းခြောက်သွေ့သော နေ့တစ်နေ့၌ မြို့သူမြို့သားများ၏ စိတ်ထဲတွင် ဖြစ်ပေါ်လေ့ရှိသော မိမိတို့၏ဘဝကို ကျေနပ်ခြင်း၊ မကျေနပ်ခြင်း စသည့်ဝေဒနာများကိုလည်း ထင်ရှားစွာ ဖော်ပြလျက်ရှိ ကြ၏။ မော်စကိုမြို့ရှိမှုးမတ် သူဌေးသူကြွယ် ဟူသမျှသည် ခါတိုင်း နွေရာသီဆိုလျှင် ကျေးလက်သို့သွား၍ အပန်းဖြေ လေ့ရှိကြသော်လည်း ထိုနှစ်နွေရာသီ၌ကား ဖြစ်နိုးအံ့ဆဲဆဲ အခြင်းအရာတစ်ခုကို စောင့်ဆိုင်းလျက် ရှိကြသကဲ့သို့ ကျေးလက်သို့ ထွက်ခွာသွားခြင်း မပြုကြသေးသဖြင့် မြို့ မျက်နှာဖုံး ပုဂ္ဂိုလ်မှန်သမျှ၊ မြို့စားကြီး ရှော့စတော့ဗ်၏ အသိမိတ်ဆွေမှန်သမျှတို့သည် ထိုနေ့တွင် ရာဇူမော့စကီ၏ သုခမ္မာဇရပ်သို့ စုရုံးရောက်ရှိနေကြသည်ကို တွေ့ရ၏။ မြို့စားကြီး ရှော့စတော့ဗ်တို့ မိသားစု ရောက်လာပြီးနောက်

လူအုပ်ကြီးဘေးသို့ ရှားစေ၍ မြို့စားကြီးတို့ မိသားစုအား ခေါ်ဆောင်သွားသည့် အခါ၌ နာတာရှာသည် မိခင်မြို့စား ကတော်ကြီး၏ဘေးမှ လိုက်ပါလာခဲ့၏။

"မြို့စားကြီး တော့စတော့ဗ် သမီးလေးလေဗျာ၊ ဟိုဒင်းတဲ့"

"မြို့စားကြီး သမီးလေး အတော်ပိန်သွားရှာပါ ကလား၊ ဒါပေမဲ့ လှတော့ လှတုန်းပဲ"

လူရွယ်တစ်ယောက်၏ ပြောဆိုသံကို နာတာရှာ ကြားလိုက်ရ၏။ နာတာရှာ၏စိတ်၌မူ အနာတိုလီ၏ နာမည်နှင့် မင်းသားကလေး အင်ဒရေတို့၏ အမည်များ ကိုလည်း ပြောဆိုသံကြားလိုက်ရသည်ဟု ထင်လိုက်မိ၏။

၎င်းကိုယ်နှိုက်ကလည်း ထိုအကြောင်းကိုသာ တွေးလျက် ရှိလေသည်။ နာတာရှာသည် လူတွေက မိမိကိုကြည့်တိုင်း ၎င်းတို့သည် မိမိ၏အဖြစ်အပျက်များကို တွေးတောလျက် ရှိကြသည်ဟု ထင်မှတ်လျက် ရှိလေသည်။ ဤသည်နှင့် တစ်ပြိုင်နက် နာတာရှာသည် ခါတိုင်းကဲ့သို့ စိတ်ထဲတွင် မချိတင်ကဲ လှိုက်လှဲ၍လာလေသည်။ မရန်းနုရောင်ဖျော့ ဖျော့တွင် အနက်ရောင် ဇာနားသတ်ထားသည့် ဝတ်စုံကို ဝတ်ထား၍ ကြာရှင်းပြေပြစ်လျက်ရှိသော နာတာရှာသည် သုဓမ္မာဇရပ်ဘက်သို့ လျှောက်လာခဲ့ရင်း ဤစကားများကို ကြားလိုက်သည်၌ ရင်ထဲတွင် မချိတင်ကဲ ဖြစ်လာလေ သည်။ သို့ရာတွင် ရင်ထဲ မချိတင်ကဲဖြစ်လာသည်နှင့်အမျှ မိန်းမတို့၏ နူးညံ့သိမ်မွေ့ခြင်းနှင့် တင့်တယ်ခြင်းကို အစွမ်းကုန်ဆောင်၍ လျှောက်လာခဲ့လေသည်။ နာတာရှာ သည် မိမိ၏ လှပပြေပြစ်ချောမောခြင်းကို သိသော်လည်း ထိုအသိသည် ယခင်ကကဲ့သို့ မိမိအား ကျေနပ်နှစ်သိမ့်ခြင်းကို မပေးနိုင်တော့ပြီ။ မပေးနိုင်တော့ရုံမျှမက နာတာရှာ၏ စိတ်ကို ညှဉ်းဆဲလျက်ရှိသကဲ့သို့ပင် ရှိနေပေသေးသည်။

“ဪ ဘာလိုလိုနဲ့ တနင်္ဂနွေနေ့ရောက်လာပြန်ပြီ နော်၊ ဒီလိုနဲ့ပဲ ရက်သတ္တ တစ်ပတ် ကုန်ရပြန်ဦးမယ်၊ နေ့ တွေ ရက်တွေသာ ပြောင်းခဲ့ပေမယ့် နာတာရှာရဲ့ ဘဝက တော့ ဘာမှ ပြောင်းလဲခြင်း မရှိပါလား၊ ဒီဘဝနဲ့ ဒီပတ် ဝန်းကျင်ထဲမှ ပေါ့ ပေါ့နေ ပေါ့ပေါ့စားနဲ့ ကျင်လည်နေရ တာပါကလား၊ နာတာရှာဟာ လှပါသေး တယ်၊ ငယ်လဲ ငယ်ပါသေးတယ်၊ ခု နာတာရှာ လိမ္မာလာပါပြီနော်။ အရင်တုန်းက ဆိုးခဲ့မိုက်ခဲ့ပေမယ့် ခု နာတာရှာ မမိုက်တော့ ပါဘူး၊ ဒါပေမဲ့ နာတာရှာရဲ့ဘဝမှာ အကောင်းဆုံးအချိန် တွေဟာ လွန်ခဲ့ပြီ ကုန်ခဲ့ပြီ၊ အကောင်းဆုံးအချိန်ဟာ ဘယ် သူ့အတွက်မှ မဟုတ်ခဲ့တော့ဘူး”

နာတာရှာသည် မိခင်မြို့စားကတော်ကြီး အနီးတွင် ရပ်၍ တွေးတောလျက် ရှိရင်း အနီးရှိ အသိမိတ်ဆွေများ ကို ခေါင်းညိတ်နှုတ်ဆက်လျက်ရှိ၏။ နာတာ ရှာသည် ၎င်း၏ဝါသနာအတိုင်း အမျိုးသမီးများ၏ ဝတ်စုံများကို အကဲခတ် လေ့လာလျက်ရှိရာမှ အနီးတွင် ပုံမကျပန်းမကျ ဖြင့် လက်ယှက် ကန်တော့လျက် ရှိသော အမျိုးသမီးတစ်ဦး ၏ ဝတ်စားဆင်ယင်ပုံကို စိတ်ထဲမှ ကဲ့ရဲ့ လိုက်မိသည်။ ဤသို့ရှိနေစဉ် မိမိက သူတစ်ပါးအား တစ်ဖန် ကဲ့ရဲ့ လျက် ရှိသကဲ့သို့ မိမိကိုလည်း သူတစ်ပါးက ကဲ့ရဲ့လိမ့်မည်ကို စဉ်းစားမိပြန်လေသည်။ ထိုအခိုက် ဝတ်ပြုသံ ထွက်ပေါ်လာ လေရာ နာတာရှာသည် မိမိ၏မကောင်းမှု ဒုစရိုက်များကို ပြန်၍ သတိရလာပြန်ကာ ကြီးစွာသော ထိတ်လန့်ခြင်း ဖြစ်လျက် မိမိဝိဿာ၏ သန့်စင် ခြင်းတို့သည် ပျောက်ကွယ် သွားကြပြန်လေသည်။

ကြည်လင်ခန့်ညားသော ဥပဓိရုပ်ရှိသည့် အသက် ခပ်ကြီးကြီး လူတစ် ယောက်သည် သိမ်မွေ့နူးညံ့၍ တည်ငြိမ် သော မျက်နှာထားဖြင့် ဝတ်ရွတ်လျက်ရှိ လေရာ ဝတ်ပြုသူ တို့၏စိတ်၌ ထာဝရဘုရားသခင်အား ကြည်ညိုသပ္ပာယ် စိတ် တို့သည် တဖွားဖွား ပေါ်ပေါက်လာကြ၏။ သီလဆေး ရာ ဝတ်ကျောင်းတံခါး

များသည် ပိတ်ထားလျက်ရှိ၍ ကန့်လန့်ကာများ ဖုံးထားသည်။ ထို၀တ်ကျောင်းဆောင် ထဲမှ တိုးတိတ်ညင်သာ သုတိဩဘာနှင့် ပြည့်စုံသော အသံတစ်သံသည် တရားတော်များကို ရွတ်ဖတ်သရဇ္ဈာယ် လျက်ရှိ၏။ နာတာရှာသည် အဘယ်ကြောင့် မသိ၊ မျက် ရည်တွေ စို့လာကာ ရင်အုံသည် တလှိုက်လှိုက် ခုန်လျက် ရှိ၏။ ကြည်နူးခြင်းနှင့် ၀မ်းနည်းခြင်းဟူသော ဝေဒနာနှစ် ရပ်သည် တစ်ပြိုင်တည်း ပေါ်လာကြသည်။

"တပည့်တော်မအား မကောင်းမှုမှ မြစ်တား၍ ကောင်းရာကို ညွှန်ပြတော်မူပါဘုရား၊ ကောင်းစွာနေ၍ အစဉ်အမြဲ ကောင်းစွာ ကျင့်ကြံနိုင်ရန် ဆုံးမတော်မူပါဘုရား"

နာတာရှာသည် ဘုရားသခင်ထံ ဝပ်တွား တောင်း ပန်လျက် ရှိ၏။ သင်းထောက်ဆရာသည် တရားပလ္လင် ရှေ့ရှိ စင်မြင့်ပေါ်သို့ တက်လာကာ ဝတ်လုံကျောဘက် တွင် ဝဲကျနေသော ဆံပင်များကို လက်ဖြင့် သိမ်းလိုက်၍ ရင်ဘတ်တွင် ကြက်ခြေခတ်သင်္ကေတန် လက်ယှက်ဆု တောင်းလိုက်ပြီးနောက် လေးနက်တည်ငြိမ်သောအသံဖြင့် ဝတ်ပြုတရားတော်များကို ရွတ်ဆိုလိုက်၏။

"ငြိမ်းချမ်းခြင်း၌ တည်၍ ကျွန်ုပ်တို့ ဘုရားသခင် ထံ ဆုတောင်းကြကုန်အံ့"

"တပည့်တော်မတို့သည် တစ်ဦးကိုတစ်ဦး ရန်ငြိုး ထားခြင်း၊ အတန်းအစားခွဲခြင်း မရှိကြဘဲ တစ်အူထုံဆင်း သော ညီရင်းအစ်ကိုတို့၏ ချစ်ခင်သောမေတ္တာဓာတ်ဖြင့် ပေါင်းစည်းမိကြသည်ဖြစ်လျက် တညီတညွတ်တည်း ဆု တောင်းကြကုန်အံ့' နာတာရှာသည် ဤသို့ တွေးတောလျက် ရှိ၏။

"ကောင်းကင်ဘုံ၌ရှိသော ငြိမ်းချမ်းခြင်းနှင့်တကွ ကျွန်ုပ်တို့ ဝိညာဉ်များ၏ သန့်ရှင်းခြင်းအတွက် ဆုတောင်း ကြကုန်အံ့"

“ကျွန်ုပ်တို့၏အထက် ကောင်းကင်ဘုံတွင်ရှိသော သမ္မာဒေဝနတ်များနှင့် တကွ ကောင်းကင်တမန်တို့အတွက် ဆုတောင်းကြကုန်အံ့ ။

နာတာရှာသည် ဤသို့ ဆုတောင်းခြင်း ပြုလေ သည်။ “

စစ်သည်တော်များအတွက် ဆုတောင်းသောအပိုဒ် သို့ရောက်လျှင် နာတာရှာသည် ၎င်း၏အစ်ကို နီကိုလေ နှင့် ဒင်နီဆော့ဗ်တို့ကို ရည်မှန်း၍ မေတ္တာပို့သည်။ ကုန်း ၌လည်းကောင်း၊ ပင်လယ်၌လည်းကောင်း၊ ခရီးသွားလျက် ရှိသူတို့အတွက် ဆုတောင်းသောအပိုဒ်သို့ ရောက်လျှင် နာတာရှာသည် မင်းသားကလေး အင်ဒရေကို အမှတ်ရ လာကာ ၎င်းကို ရည်မှန်း၍ မေတ္တာပို့သည်။ ၎င်းအပေါ်၌ ပြစ်မှားခဲ့မိခြင်းအတွက် ခွင့်လွှတ်ရန် ဘုရင်သခင်ထံ ဆု တောင်းသည်။ မိမိချစ်ခင်နှစ်သက်သူတို့အတွက် ဆုတောင်း သောအပိုဒ်သို့ရောက်လျှင် ဖခင်မြို့စားကြီး၊ မိခင်မြို့စားကတော်ကြီးနှင့် ဆွန်ယာတို့ကို ရည်မှန်း၍ မေတ္တာပို့သည်။ ထိုအခါကျမှ နာတာရှာသည် ၎င်းတို့အပေါ်တွင် ပြစ်မှား ခဲ့မိသော အပြစ်များကို နောင်တရကာ ၎င်းတို့အပေါ်မှ မည်မျှ မေတ္တာစေတ်ကြီးမားကြောင်းကို သဘော ပေါက် လာခဲ့သည်။ မိမိအား မချစ်ခင် မနှစ်သက်သူတို့ အတွက် ဆုတောင်းသောအခါတွင် နာတာရှာသည် မိမိအား မလို မုန်းထားသူများကို စဉ်းစားကြည့်သည်။ ထိုအထဲတွင် မြီရှင်များ၊ ဖခင်မြို့စားကြီးနှင့် ငွေရေးကြေးရေး ဆက်ဆံ သူများ ပါဝင်ကြသည်။ နာတာရှာသည် မိမိအား မလို မုန်းထားသူများ၊ ရန်သူများကို စဉ်းစားလိုက်တိုင်း မိမိကို ဒုက္ခပေး ခဲ့သည့် အနာတိုလီကိုလည်း အမှတ်ရလာသည်။ နာတာရှာသည် အနာတိုလီကို မမုန်းစေကာမူ ရန်သူတစ်ဦး အဖြစ် သဘောထားကာ ရန်သူတစ်ဦးအနေဖြင့် ဆုတောင်း မေတ္တာပို့သသည်။ ဤသို့ ဆုတောင်းမေတ္တာ ပို့သည့်အခါ၌သာ နာတာရှာသည် မင်းသားကလေး အင်ဒရေနှင့် အနာတိုလီတို့ နှစ်ဦး၏အကြောင်းကို တည်ငြိမ်သော စိတ်ထားဖြင့် တွေးတောမိသည်။ စင်စစ်၌ ထို

လူနှစ် ယောက်နှင့် ပတ်သက်သော နာတာရှာ၏ခံစား ချက်တို့ သည် ထာဝရဘုရားသခင်အား ကြည်ညိုလေးမြတ်စွာ နှလုံးသွင်းခြင်းနှင့် စာသော် ဘာမျှ ပြောပလောက်ခြင်း  မရှိသည်ကို တွေ့ရလေသည်။ ဘုန်းတော်ကြီးသောဘုရား ၏ ဆွေတော်မျိုးတော်နှင့် ခရစ်ယာန်သင်္ဂါယနာ စည်းဝေး သဘင်ကြီးအတွက် ဆုတောင်းသောအခါ၌နာတာ ရှာသည် ခေါင်းကိုညွတ်လျက် လက်ယှက်၍ ဆုတောင်း ခြင်းပြု သည်။ နာတာရှာသည် ခရစ်ယာန် သင်္ဂါယနာ စည်းဝေး သဘင်ကြီး၏အကြောင်းကို ကောင်းစွာ နားလည်ခြင်း မရှိသော်လည်း ၎င်းကို ကြည်ညိုလေးစားသည်သာ ဖြစ်သည့် အတွက် အောင်မြင်စေကြောင်း ဆုတောင်း၍ မေတ္တာပို့ ခြင်း ပြုလေသည်။

ခရစ်ယာန် သင်းထောက်ဆရာသည် ဤသို့ ဆု တောင်း ပတ္ထနာပြုပြီး သည့်နောက် ရင်ဘတ်ပေါ်တွင် လက်ဝါးကပ်တိုင်သဏ္ဍာန် လက်ယှက်၍ ဦးချ လိုက်၏။

“ထို့နောက် ကျွန်ုပ်တို့သည် ခရစ်တော်အား ဆု တောင်းခြင်း ပြုကြကုန်အံ့”

နာတာရှာသည် ထိုဆုတောင်းကို ပါးစပ်မှ ခပ် တိုးတိုး လိုက်၍ ရွတ်ဆိုလျက် ရှိ၏။

“ထာဝရ ဘုရားသခင်၊ အရှင်ဘုရား၏ စိတ်အလို တော်သို့ ဦးညွတ် ဆုတောင်းခြင်း ပြုပါ၏ဘုရား၊ တပည့် တော်မသည် လောက၌ မည်သည့် စည်းစိမ်ချမ်းသာကိုမျှ လိုလားတောင့်တခြင်း မရှိပါဘုရား၊ တပည့်တော်မအား ကောင်းရာကို ညွှန်ပြတော်မူ၍ မကောင်းမှုမှ တားမြစ်တော် မူပါဘုရား”

နာတာရှာသည် များစွာ ရိုကျိုးညွတ်နူးသောစိတ် ဖြင့် ဆုတောင်းခြင်း ပြု လေ၏။ လက်ဝါးကပ်တိုင်သဏ္ဍာန် အထိမ်းအမှတ်ပြု၍ ပူဇော်ရမည်ကိုပင် သတိမ

ရတော့ချေ။ ( မမြင်ရသော တန်ခိုးရှင်တစ်ပါးသည် မိမိအား သံဝေဂ ဖြစ်ရခြင်း ဆင်းရဲ၊ ဒေါသဖြစ်ခြင်း ဆင်းရဲ၊ လောဘဖြစ် ခြင်း ဆင်းရဲ၊ သက္ကာယဖြစ်ခြင်း ဆင်းရဲ၊ မာနဖြစ်ခြင်း ဆင်းရဲတို့မှ လွတ်မြောက်စေရန် ဝိညာဉ်ကို နုတ်၍ ခေါ် ဆောင်သွားတော့မည်လောဟု အောက်မေ့မိလျက် သေး သွယ်ပျော့ပျောင်းသော လက်မောင်းများကို ဘေးတွင် ဆန့်တန်းချထားကာ အလိုက်သင့် ရပ်နေမိလေ သည်။

မိခင်မြို့စားကတော်ကြီးသည် နာတာရှာ၏ ညွတ် နူးပျော့ပျောင်းလျက်ရှိ သော မျက်နှာနှင့် တောက်ပပြောင် လက်လျက်ရှိသော မျက်လုံးများကို မကြာခဏ လှည့်ကြည့် ကာ သမီးထွေးအား ကူညီမှိုင်းမတော်မူရန် ဘုရားသခင် ထံ  ဆုတောင်းလျက်ရှိ၏။

ခရစ်ယာန်ဘာသာဝင်တို့၏ ဝတ်ပြုခြင်း၌ ဝတ် ရွတ်စဉ် မပြီးမချင်း အစဉ်တစိုက် ဆက်လက်ဝတ်ပြုကြ သော ထုံးစံရှိရာ၌ ယနေ့ဝတ်ပြုပုံမှာကား တစ်မူထူးခြား လှသည်ဟု နာတာရှာ ထင်မှတ်မိ၏။ အဘယ်ကြောင့် ဆိုသော် သင်းထောက်ဆရာသည် ဝတ်ပြုခြင်းကို ရပ်၍ သေးငယ်သော ခွေးခြေကလေး တစ်လုံးကို ယူဆောင်လာ ကာ သီလဆေးရာ ဝတ်ကျောင်းဆောင်တံခါးဝတွင် ချ ထားလိုက်သောကြောင့် ဖြစ်လေသည်။ နာတာရှာသည် မမျှော်လင့်ဘဲ မြင်လိုက်ရ သော သင်းထောက်ဆရာ၏ အပြုအမူကို အံ့အားသင့်လျက်ရှိစဉ် သီလဆေးရာ ဝတ် ကျောင်းဆောင်ထဲမှ ဘုန်းတော်ကြီး ထွက်လာလေသည်။ ဘုန်းတော်ကြီး သည် ဦးခေါင်းပေါ်တွင် ကြက်သွေးရောင် ကတ္တီပါအုပ်ဆောင်းကို ဆောင်းထား လျက်ရှိရာမှ ဆံပင် များကို လက်ဖြင့်သပ်လိုက်ပြီးနောက် တရားပလ္လင်ရှေ့၌ တရိုတသေ ပုဆစ်တုပ်၍ ထိုင်လိုက်သည်။ ဝတ်ပြုသူ အားလုံးသည်လည်း ဘုန်း တော်ကြီး ပြုလုပ်သည့်အတိုင်း လိုက်၍ပြုလုပ်ကြကာ တစ်ယောက်ကိုတစ် ယောက် အံ့ အားသင့်စွာဖြင့် ကြည့်ရှုလျက်ရှိကြ၏။ ထို့နောက် သင်္ဂါ ယနာတင်

အစည်းအဝေးကြီးမှ ရောက်ရှိလာသော ဝတ်ပြု ဆုတောင်းကို စတင်ရွတ်ဆိုခြင်း ပြုလေသည်။ ထိုဝတ်ပြု ဆုတောင်းကား ရုရှားနိုင်ငံအား ရန်သူ၏ ကျူးကျော် စော်ကားခြင်းမှ ကာကွယ်ပေးတော်မူရန်နှင့် စစ်အောင် စေကြောင်း ပတ္ထနာပြု သော ဝတ်ပြုဆုတောင်းပေတည်း။

"တန်ခိုးတော်အနန္တဖြင့် ပြည့်စုံတော်မူသော ထာဝရဘုရား၊ တပည့်တော် တို့၏ ကယ်တင်ခြင်းကို ပေး သနားတော်မူသော ထာဝရဘုရား" ။

ဘုန်းတော်ကြီးသည် ကြည်လင်ချိုအေး၍ ရုရှား လူမျိုးများ၏ စိတ်နှလုံးကို သိမ်းကျုံးယူငင်နိုင်သော ဆလပ်လူမျိုး ဘုန်းတော်ကြီးများသာ ရွတ်ဖတ်နိုင်သည့် အသံမျိုးဖြင့် ရွတ်ဖတ်ခြင်း ပြုလေသည်။

"တန်ခိုးတော် အနန္တ နှင့် ပြည့်စုံသော ထာဝရ ဘုရား၊ တပည့်တော်တို့၏ ကယ်တင်ခြင်းကို ပေးသနား တော်မူသော ထာဝရဘုရား၊ ယနေ့၌ အရှင်ဘုရား၏ ကျိုးနွံဝပ်တွားခြင်းရှိသော တပည့်တော်တို့အား သနား ကရုဏာနှင့် ကောင်းချီး မင်္ဂလာကို ပေးသနားတော်မူပါ  ဘုရား၊ တပည့်တော်တို့၏ ဆုတောင်းပတ္ထနာ စကားကို ကြင်နာသနားစွာ ကြားနာတော်မူပါဘုရား၊ တပည့်တော် တို့အား စောင့်ရှောက်တော်မူပါဘုရား၊ တပည့်တော်တို့အား သနားခြင်းကရုဏာကို ပေး တော်မူပါဘုရား၊ ဤရန်သူ သည် အရှင်ဘုရား၏ တိုင်းပြည်ကို နှိပ်စက်ကလူပြု လျက် ရှိပါသည်ဘုရား၊ ကမ္ဘာလောကကြီးတစ်ခုလုံးအား အချည်း နှီး ပျက်ပြုန်းစေ အံ့သောငှာ တပည့်တော်တို့အား တိုက်ခိုက် လျက်ရှိပါသည်ဘုရား၊ အရှင်ဘုရား၏ နိုင်ငံတော်ကို လည်းကောင်း၊ အရှင်ဘုရား၏ ချစ်ခင်နှစ်သက်တော် မူအပ်သော ဂျေရုပ္ပလင်မြို့ကိုလည်းကောင်း၊ အရှင်ဘုရား ၏ ချစ်ကြည်တော်မူအပ်သော ရုရှားပြည်ကို လည်းကောင်း၊ ဖျက်ဆီး ချေမှုန်းရန်အတွက် တရားမဲ့သော လူ တို့သည် အတူတကွ စုဝေးလျက် ရှိကြပါပြီ။ အရှင်ဘုရား၏ ဒေသနာတော်တို့

ပွားများရာ သုခမ္မာဇရပ်များကို ညစ်ညမ်း စေရန်လည်းကောင်း၊ ဒေသနာတို့ပေး ဝေရာ တရားပလ္လင် များကို မှောက်လှန်ပစ်ရန် လည်းကောင်း၊ ခာတ်မွေသရီတို့ ကိန်းအောင်းရာ ပုထိုး များ၏ အထွတ်အမြတ်ဖြစ်ခြင်းကို ဖျက်ဆီးရန် လည်းကောင်း တရားမစောင့်သောသူတို့သည် အတူတကွစုဝေးလျက် ရှိကြပါပြီ၊ အို ထာဝရဘုရား၊ ကောက်ကျစ်စဉ်းလဲ သူတို့သည် မည်မျှ ရှည်ကြာစွာ အနိုင်ရ လျက် ရှိကြဦး မည်နည်း၊ ထိုသူတို့သည် ၎င်းတို့၏ တရားမဲ့သော တန်ခိုး အာဏာစက်တွင် မည်မျှရှည်ကြာစွာ တည်ရှိကြဦး မည်နည်း။

"ထာဝရဘုရားသခင်၊ တပည့်တော်တို့သည် အရှင် ဘုရားထံ ဆုတောင်း လျက်ရှိကြသည်ဖြစ်၍ ကြားနာတော် မူပါဘုရား၊ တပည့်တော်တို့၏ ကြင်နာ သနားတတ်သော ဘုန်းတော်ကြီးမြတ်သော အလက်ဇန်းဒရား ဘုရင်မင်းမြတ် အား အရှင်ဘုရင်၏ အနန္တတန်ခိုးတော်ဖြင့် အင်အားပြည့် တင်း၍ ပေးတော်မူပါ အရှင်ဘုရား၊ အလက်ဇန်းဒရား ဘုရင်မင်းမြတ်၏ တော်တည့်မှန်ကန်ခြင်း၊ ပြည် သူအများ အား ရင်ဝယ်သားကဲ့သို့ သနားချစ်ခင်ခြင်းတို့ကို ထောက် ထား လျက်၎င်း၏တော်တည့် မှန်ကန်ခြင်းနှင့်အညီ ထိုက် တန်သော အကျိုးတရားကို ပေးတော်မူပါဘုရား၊ အရှင် ဘုရား၏ ကောင်းမြတ်သောနေရာဖြစ်သော ဣသရေ ပြည် အား တပည့်တော်တို့ကို စောင့်ရှောက်စေတော်မူပါ ဘုရား၊ ဘုရင်မင်း မြတ်၏ အတိုင်ပင်ခံဝန်ကြီးများ၊ ဘုရင်မင်း မြတ်၏ တာဝန်ဝတ္တရားများ၊ အမှုများ ကို ကောင်းချီးပေး တော်မူပါဘုရား၊ အရှင်ဘုရား၏ 'ခွန်အားကြီးသော လက် တော်ဖြင့် ဘုရင်မင်းမြတ်၏ နိုင်ငံတော်ကို အင်အားဖြည့် တင်းပေးတော်မူပါ ဘုရား၊ မောရှေအား အမ္မာလက်ကို အောင်မြင်စေသကဲ့သို့ လည်းကောင်း၊ ဂီဒိရုန် အား မိဒိယကို အောင်စေသကဲ့သို့ လည်းကောင်း၊ ဒေဝိအား ရှိလိယကို အောင်စေ သကဲ့သို့ လည်းကောင်း၊ ဘုရင်မင်းမြတ်အား လည်း ၎င်း၏ရန်သူအား အောင်စေ ရန် မှိုင်းမတော်မူပါ ဘုရား၊ ကိုယ်တော်သည် ဘုရင်မင်းမြတ်၏ စစ်သည် ရဲမက်တို့

ကို ထိန်းသိမ်းခြင်းဖြင့် ဘေးရန်ခပ်သိမ်းတို့မှ ကင်းငြိမ်းစေတော်မူ၍ သာသနာတော်၏ အစီးအပွား အတွက် တိုက်ခိုက်လျက် ရှိသူတို့၏လက်သို့ ကြေးဖြင့်ပြုလုပ်သောလေးကို အပ်နှင်း တော်မူပါဘုရား၊ ရန်သူကို တိုက်နိုင်ရန်အတွက် ၎င်းတို့၏ ခါးကို ခွန်အားဗလတည်း ဟူသော ခါးစည်းကြိုးဖြင့် စည်းပေးတော်မူပါဘုရား၊ ဒိုင်းနှင့်လှံတံကို ကိုင်စွဲလျက် တပည့်တော်တို့အား ကူညီ စောင်မရန် ထတော်မူပါဘုရား၊ တပည့်တော်တို့အား ဆိုးယုတ်သောအကြံကို ကြံစည်ခြင်း ပြုသူတို့အား ကဲ့ရဲ့၍ အရှက်ကိုရစေအောင် ပြုတော်မူပါ ဘုရား၊ အရှင်ဘုရား၏ သစ္စာရှိလှသော စစ်သည်ရဲမက် တို့၏ ရှေ့၌ ရန်သူတို့သည် လေတိုက်ရာ၌ လွင့်ပါသော ဖုန်မှုန်ကဲ့သို့ လွင့်ပျောက်စေ တော်မူပါဘုရား၊ အရှင်ဘုရား၏ ခွန်အားဖြင့် ပြည့်စုံသော ကောင်းကင်တမန်တို့ကို စေ၍ ရန်သူတို့အား ကဲ့ရဲ့ကာ ထွက်ပြေးစေအောင် ပြုတော်မူပါဘုရား၊ ရန်သူတို့အား ထောင်ချောက်ကို မသိသည်ဖြစ်၍ ထောင်ချောက်သို့ တိုးဝင်စေတော်မူပါ ဘုရား၊ လျှို့ဝှက်ပြုလုပ်အပ်သော ၎င်းတို့၏ အကြံအစည်များသည် ၎င်းတို့အား တုံ့ပြန်စေ တော်မူပါဘုရား၊ ၎င်းတို့အား ဘုရား၏ကျေးကျွန်များခြေ၌ လဲကျစေတော်မူပါဘုရား၊ ထာဝရဘုရား၊ အရှင်ဘုရားသည် ကြီးသူ ကိုလည်းကောင်း၊ ငယ်သူကို လည်းကောင်း၊ ကယ်တင်နိုင်သောသူဖြစ်လျက် အရှင်ဘုရားသည် ဘုန်း တော် အနန္တနှင့် ပြည့်စုံတော်မူသည်ဖြစ်၍ လူသတ္တဝါသည် အရှင်ဘုရား၏ အလိုတော်ကို ဆန့်ကျင်၍ ပြုလုပ်နိုင်စွမ်း မရှိပါ ဘုရား။

"တပည့်တော်တို့ ဘိုးဘေးများ၏ အဖ ဘုရား သခင်၊ အရှင်ဘုရား၏ ကြီးလှစွာသော မဟာကရုဏာတော်  နှင့် ချစ်ခင်တတ်သော ကြင်နာခြင်းကို အောက်မေ့ဆင်ခြင် တော်မူပါဘုရား၊ အရှင်ဘုရား၏ မျက်နှာတော်ကို တပည့် တော်တို့ထံမှ လွှဲဖယ်ခြင်း ပြုတော်မမူပါနှင့် ဘုရား၊ တပည့် တော်တို့၏ ကိုယ်တွင်း၌ စင်ကြယ်သော နှလုံးကို ဖန်ဆင်းတော်မူ၍ မှန်ကန်သော စိတ်ကို အသစ်ပြုလုပ် တော်မူပါ

ဘုရား၊ အရှင်ဘုရားအား ယုံကြည်ခြင်း၌ ပိုမို ထက်သန်အောင် ပြုတော်မူပါ ဘုရား၊ တပည့်တော်တို့၏ မျှော်လင့်ခြင်းကို ခိုင်မာစေ၍ တစ်ဦးကိုတစ်ဦး စစ်မှန်သော ချစ်ခင်ခြင်း သက်ဝင်အောင် ပြုလုပ်တော်မူပါ ဘုရား၊ အရှင်ဘုရားကိုယ်တော်တိုင် တပည့်တော်တို့အား ပေးကမ်း စွန့်ကြဲခဲ့သော ဓာတ်တော်မွေတော်တို့ကို ဖြောင့်မှန်စွာ ကာကွယ်နိုင်ရန်အတွက် စိတ်ဓာတ်၏ ညီညွတ်ခြင်း ဆိုးယုတ်သူတို့၏ ရာဇလုံတံသည် အရှင်ဘုရားကိုယ်တော် တိုင် သန့်စင်စေခဲ့သူတို့၏ ကံကြမ္မာကို စီရင်ပြဋ္ဌာန်းရန် ခွင့်ပြုတော်မူခြင်းငှာ မထိုက်ပါဘုရား။

"ကျွန်ုပ်တို့ယုံကြည်၍ သစ္စာကို အပ်နှံသော အို တာဝရဘုရား၊ တပည့်တော်တို့သည် အရှင်ဘုရား၏ ကရုဏာတော်ကို မျှော်လင့်သည်ဖြစ်၍ နှိပ်စက်ကလူပြုခံရခြင်းမှ လွတ်ကင်းအောင် မှိုင်းမတော်မူပါ ဘုရား၊ အရှင် ဘုရား၏ ကောင်းချီးမင်္ဂလာကို ပေးသနားတော်မူပါ ဘုရား၊ တပည့်တော်တို့ကို မုန်းထားသူတို့အား အရှက်ကို ဖြစ်စေ၍ ပျက်စီးစေတော်မူပါဘုရား၊ အရှင်ဘုရားသည် တစ်ဆူတည်းသော ထာဝရ ဘုရားဖြစ်၍ တပည့်တော် တို့သည် အရှင်ဘုရား၏ တပည့်များဖြစ်ကြောင်းကို လူမျိုး အားလုံး သိစေခြင်းငှာ ပြုတော်မူပါ ဘုရား၊ ယနေ့၌ အရှင်ဘုရား၏ မဟာကရုဏာတော်ကို ပြတော်မူပါဘုရား၊ အို ထာဝရဘုရား၊ အရှင်ဘုရား၏ ကယ်တင်ခြင်းကို ပေးသနားတော်မူပါ ဘုရား၊ အရှင်၏ ကရုဏာတော်ကို ပြခြင်းဖြင့် အရှင့်ကျေးကျွန်တို့၏ နှလုံးကို ရွှင်ပြုံးစေတော် မူပါ ဘုရား၊ ရန်သူတို့ကို ပြာမှုန်ကဲ့သို့ဖြစ်စေ၍ အရှင် ဘုရား ကျေးကျွန်များ၏ ခြေဖဝါးအောက်၌ လျင်မြန်စွာ ကျေပျက်အောင် ပြတော်မူပါ ဘုရား၊ အရှင်ဘုရားသည် ယုံကြည်သူအပေါင်းတို့၏ ကာကွယ်ခြင်းလည်း ဖြစ်၊ ကူညီခြင်းလည်း ဖြစ်၍ အောင်မြင်ခြင်းလည်း ဖြစ်တော် မူပါ ဘုရား၊ အရှင်ဘုရားသည် ဘုန်းတန်ခိုးတော်နှင့် ထာဝရပြည့်စုံသည်ဖြစ်၍ ကမ္ဘာလောကကြီးသည် ထာဝရ တည်စေသတည်း။ တောင်းသောဆုနှင့် ပြည့်သောကိုယ် ဖြစ်ရပါ၏ဘုရား"

နာတာရှာ၏စိတ်သည် ထိုအချိန်၌ ပျော့ပျောင်း နူးညွတ်လျက်ရှိသည်ဖြစ်၍ ဤဆုတောင်းသံကို ကြား လိုက်ရသည်တွင် စိတ်ထဲ၌ အကြီးအကျယ် ထိခိုက်သွား လေသည်။ နာတာရှာသည် မောရှေက အမ္ဗာလက်ကို အောင်မြင်ခန်း၊ ဂီဒီရုန်က မိဒိယကို အောင်မြင်ခန်း၊ ဒေဝိ က ဂိုလိယကို အောင်မြင်ခန်း၊ ယေရုရှလင်မြို့ ပျက်စီး ခန်းတို့နှင့် စပ်လျဉ်း၍ ဝတ်ပြုဆုတောင်းစကားများကို သေချာစွာ နားထောင်ကာ ကြည်နူးယိုဖိတ်သော စိတ်ဖြင့် ဆုတောင်းခြင်းအမှုကို ပြု၏။ သို့ရာတွင် ဆုတောင်းခြင်း ဝတ်စဉ်ထဲ၌ မည်သည့်အချက်များ ပါဝင်သည်ကိုကား အပြည့်အစုံ နားမလည်လိုက်ချေ။ တော်ဖြောင့်မှန်ကန်သော စိတ်ထားရှိရန်၊ ယုံကြည်ချက်နှင့် မျှော်လင့်ချက်တို့ဖြင့် မိမိ၏ စိတ်နှလုံးကို ခိုင်ကျည်စေရန်၊ တစ်ဦးနှင့်တစ်ဦး စစ်မှန်သောချစ်ခြင်း သက်ဝင်ကြရန် ဆုတောင်းရာ၌ကား နာတာရှာသည် စိတ်ပါလက်ပါ ဆုတောင်းခြင်းပြု၏။ သို့ရာတွင် လွန်ခဲ့သော မိနစ်အနည်းငယ်ခန့်က ရန်သူများ အား မေတ္တာပို့ခဲ့ပြီးနောက် ယခုတစ်ဖန် ထိုရန်သူများအား ခြေဖဝါးအောက်၌ မှုန့်မှုန့်ညက်ညက်ကျေစေရန် ဆုတောင်း ခြင်းကိုကား နာတာရှာ နားမလည်နိုင်ချေ။ သို့ဖြစ်သည့် တိုင် ဝတ်ရွတ်စဉ် တရားတော်၏ မှန်ကန်ခြင်းကိုလည်း နာတာရှာ သံသယမရှိခဲ့ချေ။ ထိုခဏ၌ နာတာရှာသည် ဒုစရိုက်ကြောင့် ခံရအံ့သော အပြစ်တို့ကို ကြောက်၍လာ လေသည်။ အထူးသဖြင့် မိမိ၏ ဒုစရိုက်အတွက် ခံရအံ့ သော အပြစ်တို့ကို ကြောက်၍လာမိသည်။ နာတာရှာသည် မိမိကိုလည်းကောင်း၊ လူအားလုံးကိုလည်းကောင်း ခွင့်လွှတ် တော်မူရန် ဆုတောင်းခြင်း ပြု၏။ တစ်ဖန် မိမိကိုလည်း ကောင်း၊ လူအားလုံးကိုလည်းကောင်း ငြိမ်းချမ်းခြင်းနှင့် ပျော်ရွှင်ခြင်းကို ပေးသနားတော်မူရန် ဆုတောင်းခြင်း ပြု၏။ ဤသို့ဖြင့် ဘုရားသခင်သည် မိမိ၏ဆုတောင်းသံ ကို ကြားတော်မူလိမ့်မည်ဟုလည်း နာတာရှာ၏စိတ်တွင် ထင်မှတ်လျက် ရှိပေသတည်း။

# အခန်း ၁၉

ပီယာသည် နာတာရှာ၏ ကျေးဇူးတင်ဟန်ရှိသော မျက်နှာ ကလေးကို မျက်စိထဲတွင် တရေးရေး မြင်ယောင်လျက် ရှိရှာရင်း မြို့စားကြီး ရော့စတော့ဗ်၏စံအိမ်မှ ပြန်လာခဲ့ သည်တွင် ကောင်းကင်၌ ကြယ်တံခွန်ကြီး ဦးစိုးဝင်းဝင်း ပေါ်နေသည်ကို မြင်ခဲ့ရ၏။ ထိုကြယ်တံခွန်ကို ကြည့်၍ မိမိဘဝ ကောင်းကင်ပြင်ကြီး၌လည်း အသစ်ဖြစ်သောအရာ တစ်ခု ပေါ်ပေါက်လာခဲ့လေပြီဟု ထင်မှတ်ခဲ့မိ၏။ ထိုနေ့ ထိုအချိန်မှစ၍ မိမိအား ဆောက်တည်ရာမရ ဖြစ်စေခဲ့သည့် ပြဿနာတို့သည် ပျောက်ကွယ်ခဲ့ကြပြီး လောကီလူ့ဘုံ ကြီးအတွင်းရှိ အရာဟူသမျှသည် အချည်းနှီးသာတကား၊ အကျိုးမဲ့သာတကားဟူသော အသိသည် ပျောက်ကွယ်ခဲ့လေပြီ။ "လူတွေသည် အဘယ်ကြောင့် အသက်ရှင်နေကြ သနည်း၊ မည်သည့်အရပ်က လာခဲ့ကြသနည်း" ဟူသော မေးခွန်းများသည် ပီယာအား အမြဲတစေခြောက်လှန့်လျက် ရှိခဲ့သော်လည်း ထိုသည့်နောက်၌ကား ထိုမေးခွန်းနေရာတွင် အရာဝတ္ထုတစ်ခု အစားဝင်ရောက်လာခဲ့ပြီ။ ထိုအရာ ဝတ္ထုကား ထိုမေးခွန်းကို ဖြေသည့်အဖြေလည်း မဟုတ်၊ နောက်မေးခွန်းသစ်တစ်ခုလည်း မဟုတ်ချေ။ နာတာရှာ၏ ရုပ်အဆင်းသဏ္ဌာန်ပင် ဖြစ်လေသည်။ သူများ၏စကားကို နားထောင်လျှင်သော် လည်းကောင်း၊ မိမိကိုယ်တိုင် ဝင် ရောက် ပြောဆိုသောအခါတွင် သော်လည်းကောင်း၊ အာ လာပ သလ္လာပ ပြောကြသည့်အခါတွင် သော်လည်းကောင်း၊ လူတို့၏ ဆိုးယုတ်မိုက်မဲမှုများကို ကြားရသည့်အခါ သို့မဟုတ် ဖတ်ရသည့်အခါတွင်သော်လည်းကောင်း ပီယာ သည် လောကကြီး၏ အနှစ်သာရကင်းမဲ့ပုံကို တွေးမိကာ ထိတ်လန့်သံဝေဂကြီးစွာ ဖြစ်ခဲ့ရ၏။ လူတို့သည် အဘယ့် ကြောင့် ဤအရာများကို အငမ်းမရ မက်မောကာ ရုန်းကန်လှုပ်ရှားလေကြသနည်းဟု တွေးတောခဲ့ဖူး၏။ ယခုသော် ပီယာ၌ ထိုသို့သော

ထိတ်လန့်ခြင်း သံဝေဂနှင့်တကွ ထို အတွေးတို့ မရှိတော့ပြီး ယခုအချိန်တွင် ပီယာ သည် ထို အရာတို့ကို မစဉ်းစားမိတော့ဘဲ နာတာရှာ၏ မျက်နှာ ကလေးကိုသာ တရေးရေး မြင်လျက်ရှိလေသည်။ နာတာ ရှာ၏ မျက်နှာကလေး မျက်စိထဲတွင် ပေါ်လာသည်နှင့် တစ်ပြိုင်နက် ထိုသံသယများ မေးခွန်းများသည် ပျောက်  ကွယ် သွားကြလေပြီ။ မိမိအား ခြောက်လှန့်လျက်ရှိသော မေးခွန်းများကို နာတာရှာက ဖြေဆိုပေးလိုက်သောကြောင့် ပျောက်ကွယ်သွားခြင်းကား မဟုတ်ပါ။ နာတာရှာ၏ ရုပ်သွင်ကို မှန်းကြည့်လိုက်သည်နှင့် တစ်ပြိုင်နက် လှပ ခြင်း၊ ချစ်ခင်ခြင်းတို့ရှိရာ ကမ္ဘာသစ်ကြီးတစ်ခုသို့ ရောက် သွားသည့်ပမာ ထင်မှတ်ရခြင်းကြောင့် ထိုမေးခွန်း များသည် အလိုလို မှေးမှိန်ပျောက်ကွယ်သွားကြခြင်းသာ ဖြစ်ပါသည်။

တောက်ပရွှင်မြူးဖွယ် ကောင်းသော စိတ်ကူးကမ္ဘာသစ်ကြီး ၌ မှန်ခြင်း လည်း မရှိ၊ မှားခြင်းလည်း မရှိ၊ ဆိုးခြင်းလည်း မရှိ၊ ကောင်းခြင်းလည်း မရှိဘဲ လူအားလုံးတို့အဖို့ နေ စချင့်ဖွယ်ကောင်းလျက်ရှိသည်ဟု ပီယာ ထင်မှတ်မိလေ သည်။ စိတ်ပျက်စက်ဆုပ်ဖွယ်ကောင်းသည့် ပြဿနာများ ပေါ်လာတိုင်း နာတာရှာ ကို အောက်မေ့လိုက်ခြင်းဖြင့် ထိုအရာတို့သည် မှေးမှိန်ပျောက်ကွယ်သွားကြလေ သည်။

လောကကြီးကို စိတ်ပျက်ငြီးငွေ့လာသည့် အခါမျိုး၌ ပီယာသည် ဤသို့ တွေး၏။

“ကဲ-ကဲ တိုင်းပြည်ကြီးနဲ့တကွ ဘုန်းတော်ကြီး သော ဘုရားကို လိမ်လည် လှည့်ဖြားနေပေမယ့် ဘုန်းတော် ကြီးသော ဘုရားနဲ့တကွ တိုင်းပြည်က သူ့ကို အဟုတ် ထင်ပြီး ချီးမြှင့်မြောက်စားနေပြီဆိုပါတော့၊ ဒါ ဘာအရေး လဲ၊ ငါ ဘာဖြစ် လို့ ဒါတွေတွေးပြီး စိတ်ညစ်နေရမှာလဲ။ ငါ့အဖို့ အရေးကြီးတာက နာတာရှာပဲ၊ နာ တာရှာက ငါ့ကို မနေ့က ပြုံးပြုံးလေး နှုတ်ဆက်ပြီး နောက်တစ်ခေါက် လာဖို့

မှာလိုက်ရှာတယ်၊ ဟုတ်တယ်၊ ငါ့အဖို့ အရေးကြီး တာက နာတာရှာပဲ၊ နာတာရှာကို ငါချစ်တယ်၊ ငါ့အချစ် ကို ဘယ်သူမှမသိပေမယ့် နာတာရှာကို ငါချစ်တယ်၊ မြတ်နိုးတယ်”

ပီယာသည် လောကကြီးကို စိတ်ပျက် ငြီးငွေ့စရာ ကြုံလာ၍ ဤသို့ ဖြေဖျောက်လိုက်၏။ ထိုအခါကျတော့မှ စိတ်တွင် သက်သာရာရကာ တည်ငြိမ်လာပေတော့သည်။

“ပီယာသည် အထက်တန်းလွှာ အသိုင်းအဝိုင်းတွင် ကျင်လည်မြဲ ကျင်လည်လျက်ရှိကာ အရက်ကိုလည်း သောက်နိုင်သမျှ သောက်သည်။ ယခင်ကကဲ့သို့ပင် သောက် သောက်စားစား လူမင်းသားဘဝဖြင့် ပျက်စီးချင်တိုင်း ပျက်စီးလျက်ရှိသည်။ ပီယာတွင် မြို့စားကြီး ရော့စတော့ဗ် တို့ထံ လည်ပတ်သော အချိန်များအပြင် အခြားသောအချိန် များ ကျန်ပေသေးရာ ထိုအချိန်များကို တစ်နည်းနည်းဖြင့် ဖြုန်းတီးရမည်သာ ဖြစ်၏။ ထိုအထဲတွင် မော်စကိုမြို့၌ ပေါင်းသင်းသည့် အပေါင်းအသင်းကလည်း ပျက်စီး လေလွင့်၍နေသော အပေါင်းအသင်းမျိုးဖြစ်ရာ ပီယာသည် ပျက်စီးခြင်း ရေယဉ်ကြောတွင် အတောမသတ်နိုင်အောင် မျောလျက်ရှိပေသည်။ သို့ရာတွင် စစ်မျက်နှာမှ စိတ် မချမ်းမြေ့စရာ သတင်းများနှင့်တကွ နာတာရှာ၏ ကျန်းမာ ရေး အခြေအနေ ကောင်းမွန်လာပြီဆိုသည့် သတင်းများကို ကြားလာရသောအခါတွင်ကား ပီယာသည် ယခင်ကကဲ့သို့ ကြည်နူးခြင်းတို့ မရှိကြတော့ပြန်ဘဲ စိတ်ထဲတွင် ယောက် ယက်ခတ်စ ပြုလာပြန်လေသည်။ မည်သည့်အကြောင်း ကြောင့်ဟူ၍ကား စဉ်းစား၍ မရချေ။ သို့ရာတွင် ဤကဲ့ သို့ ဆက်လက်ပျက်စီးလေလွင့်၍ မဖြစ်တော့ဟူ၍ကား သဘောပေါက်လာ၏။ မိမိ၏ဘဝတစ်ခုလုံးကို ပြောင်းလဲ ပစ်မည့် ဘေးဥပဒ်အန္တရာယ်ကြီး တစ်ခုသည် တဖြည်း ဖြည်း ချဉ်းကပ်လာလျက်ရှိခြင်းကိုလည်း သဘောပေါက် လာခဲ့လေသည်။ ထို့ကြောင့် ပီ

ယာသည် ထိုဘေးဥပဒ် အန္တရာယ်ကြီး၏ နိမိတ်လက္ခဏာများကို ရှာဖွေစဉ်းစား မိသည်။ ညီအစ်ကိုတော် ဂိုဏ်းဝင်တစ်ယောက်သည် နပိုလီယန်နှင့်ပတ်သက်၍ ဗေဒင်ဟောကိန်းတစ်ခုကို ပီယာ ထံသို့ ပေးပို့လိုက်သည်။ ၎င်းမှာ ရှင်ယောဟန်၏ ဗျာဒိတ် ကျမ်းမှ ထုတ်နုတ်ထားခြင်း ဖြစ်လေသည်။

ဗျာဒိတ်ကျမ်း အခန်း ၁၃ ပုဒ်ရေ ၁၈တွင် အောက်ပါအတိုင်း ပါရှိသည်။

ဤအရာ၌ ပညာရှိ၏။ ဉာဏ်ရှိသောသူသည် သားရဲ၏ အရေအတွက်ကို ရေတွက်စေ။ လူ၏ အရေအတွက် ဖြစ်၏။ ခြောက်ရာခြောက်ဆယ့် ခြောက်လည်း ဖြစ်၏။ တစ်ဖန် ဗျာဒိတ်ကျမ်း အခန်း ၁၃ ပုဒ်ရေ ၅ တွင် အောက်ပါအတိုင်း ပါရှိ ပြန်သည်။ ထိုသားရဲသည်လည်း ကြီးစွာသော စကားကိုလည်း ကောင်း၊ ဘုရားသခင်အား ပြစ်မှားသော စကား ကို လည်းကောင်း၊ ပြောတတ်သောနှုတ် ဖြင့် ပြည့်စုံ၍ လလေးဆယ့်နှစ်လပတ်လုံး စီရင်ရသော အခွင့်ကို ရ၏။ ပြင်သစ် အက္ခရာများသည် ဟေဗြဲအက္ခရာများကဲ့သို့ သင်္ချာအရေအတွက်အားဖြင့် တန်ဖိုးရှိ ကြ၏။ ၎င်းတို့အနက် ပထမအက္ခရာ ကိုးလုံးသည် ဂဏန်းများဖြစ်ကြ၍ နောက် အက္ခရာများမှာ ဆယ်ဂဏန်း တန်ဖိုးအသီးသီး ရှိကြ၏။ သို့ဖြစ်ရကား ပြင်သစ် အက္ခရာများကို ဂဏန်းအရေအတွက် ဖြင့် တွက်လိုက်လျှင် အောက်ပါအတိုင်း တန်ဖိုးရှိကြ၏။

| | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| A | B | C | D | E | F | G | H | I | K |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ | ၁၀ |
| L | M | N | O | P | Q | R | S | T | |
| ၂၀ | ၃၀ | ၄၀ | ၅၀ | ၆၀ | ၇၀ | ၈၀ | ၉၀ | ၁၀၀ | |
| U | V | W | X | Y | Z | | | | |
| ၁၁၀ | ၁၂၀ | ၁၃၀ | ၁၄၀ | ၁၅၀ | ၁၆၀ | | | | |

ကေရာဇ်ဘုရင် နပိုလီယန်ဟူသော အမည်ကို (ပြင်သစ်စာလုံးပေါင်း အတိုင်း) ဂဏန်းဖြင့်ရေးပါက ထို ဂဏန်းများ၏ စုစုပေါင်းကိန်းသည် ၆၆၆ ဖြစ်၏။ ထို့ ကြောင့် နပိုလီယန်သည် ဗျာဒိတ်ကျမ်းထဲ၌ ဟောကြား ထားသောသားရဲ ဖြစ်၏။ တစ်ဖန် ကြီးစွာသော စကားကို လည်းကောင်း၊ ဘုရားသခင်အား ပြစ်မှားသော စကားကို လည်းကောင်း” ပြောဆိုခြင်းပြုသော ထိုသားရဲ၏ သက် တမ်းမှာ လေးဆယ့်နှစ်လဖြစ်လေရာ (လေးဆယ့်နှစ်)ကို ပြင်သစ်စာလုံးပေါင်းအတိုင်း ဂဏန်းဖြင့်ရေးပါက ထို ဂဏန်းများ၏ စုစုပေါင်းကိန်းသည် ၆၆၆ ပင် ရပြန်၏။ တိုက်ဆိုင်ခြင်းမှာကား နပိုလီယန် ဥရောပတွင် ဘုန်းတန် ခိုးကြီးသောနှစ်မှာ ၁၈၁၂-ခုဖြစ်၍ ထိုနှစ်၌ နပိုလီယန်မှာ အသက်လေးဆယ့်နှစ်နှစ် ရှိနေခြင်းပင် ဖြစ်သည်။ ဗျာဒိတ် ကျမ်း အလိုအရ သားရဲသည် လေးဆယ့်နှစ်နှစ် လွန်၍ စီရင်ရသော အခွင့်ကုန် ဆုံးမည်ဖြစ်ရာ နပိုလီယန်သည် လည်း ဤနှစ်ကုန်လျှင် ဘုန်းတန်ခိုးနိမ့်ချေတော့မည်ဟု တွေးမိကာ ပီယာသည် ဗျာဒိတ်ကျမ်းတွင် ဖော်ပြထားချက် ကို ဖတ်၍ ကြည်နူးလျက်ရှိ၏။ တစ်ဖန် ဤသားရဲ တိရစ္ဆာန်ဖြစ်သော နပိုလီယန်ကို မည်သို့ နှိမ်နင်းအံ့နည်း ဟုလည်း ပီယာသည် ဗျာဒိတ်ကျမ်းအရ တွက်ကြည့်ပြန် သည်။ ထို့ကြောင့် ဗျာဒိတ်ကျမ်းအရဆိုသော် ထိုသားရဲ ကို နှိမ်နင်းမည့်

ဘုန်းတန်ခိုးကြီးသူ၏ အမည်နာမသည် သင်္ချာအားဖြင့် တွက်လျှင် ၆၆၆ ပြည့်ရမည် ဖြစ်၏။ သံဃာသည် နာမည်များကို ရေးချကာ ၆၆၆ ဂဏန်းရအောင် ပေါင်းကြည့်သည်။ ပထမ “ကေရာဇ်ဘုရင် အလက်ဇန်း ဒရား၊ ရုရှားနိုင်ငံတော်”ဟု (ပြင်သစ်စာလုံးပေါင်းအတိုင်း) ရေး၍ တွက်ကြည့်သည်။ ရလာဒ်မှာ ၆၆၆ ထက်ပိုနေပြန်၏။ တစ်ဖန် “မြို့စား ပီယာ ဘီဇူးကော့ဗ်” ဟူသော မိမိ၏အမည်နာမကို (ပြင်သစ်စာလုံးပေါင်းအတိုင်း) ရေး၍ တွက်ပြန်သည်။ ရလဒ်မှာ ၆၆၆နှင့် မကိုက်ပြန်ချေ။ ထို့ကြောင့် မိမိ၏ နာမည်ကို (ပြင်သစ် စာလုံးပေါင်းဖြင့်ပင် တစ်မျိုးပြောင်း၍) တစ်မျိုးရေးကြည့်ပြန်သည်။ ဤအခါ တွင်လည်း လိုသောကိန်းကို မရသေးချေ။ တစ်ဖန်လူမျိုး၏ အမျိုး အမည်ကို ဖော်၍ရေးလျှင် ကိုက်လေမည်လောဟု တွေးမိပြန်ကာ “ရုရှားလူမျိုး ဘီဇူးကော့ဗ်”ဟု ရေးကြည့် ပြန်သည်။ ရလဒ်မှာ ၆၇၁ ဖြစ်၍ ၅ ပိုနေသည်။ ထို့ကြောင့် Le Russe Besuhof အစား၊ ၅ ဂဏန်းကို ကိုယ်စားပြုသော ကိုဖြုတ်ပြီးလျှင် LRussc Besuhof  ဟုရေးလိုက်၏။ ပေါင်းကြည့်လိုက်သော် လိုသောကိန်း ၆၆၆ ကို ရလေသည်။ ပီယာသည် ဤတွက် ကိန်းကို ရလိုက်သည်နှင့် များစွာ ကျေနပ်သွားသည်။ တကယ် တွင်ကား ဗျာဒိတ်ကျမ်း၌ ဟောထားသည့်အတိုင်း မိမိသည် ဤကိစ္စကြီးကို ဆောင်ရွက်နိုင်ခြင်း ရှိမရှိကိုမူ ပီယာမစဉ်း စားမိချေ။ သို့ရာတွင် ဤမျှ တွက်၍ရလျှင်ပင် အနည်းဆုံး စိတ်သက်သာမှုရသည်သာဖြစ်လေသည်။ မည်သို့ပင်ဖြစ်စေ နာတာရှာအား မေတ္တာသက်ဝင်လျက်ရှိခြင်း၊ အန္တိခရစ် ဖြစ်ခြင်း၊ နပိုလီယန်ကို နှိမ်နင်းနိုင်မည်ဟုထင်ခြင်း၊ ကြယ်တံခွန်ကြီးပေါ်ခြင်း၊ ဗျာဒိတ်ကျမ်းအရ တွက်ကိန်း မှန်လျက်ရှိခြင်း စသည်တို့သည် ပျက်စီးခြင်း ရေအယဉ်တွင် မျောပါလျက်ရှိသော ပီယာအား ကယ်တင်ကာ သတိ တရား ရစေခဲ့သည်သာ ဖြစ်လေသည်။

စစ်အောင်ကြောင်း ဆုတောင်းသည့် တနင်္ဂနွေ မတိုင်မီ တစ်ရက်က ပီယာသည် စစ်မြေပြင်မှ နောက်ဆုံး သတင်းများကို မိမိနှင့် ရင်းနှီးသူ မော်စကိုမြို့ဝန်

မြို့စား ကြီး ရှေ့စတော့ချင်ထံမှ မေးမြန်း စုံစမ်းလာခဲ့မည်ဟု မြို့စားကြီး ရှေ့စတော့ဗ်နှင့် အိမ်သားများအား ကတိပေး ခဲ့၏။ ထို့ကြောင့် တနင်္ဂနွေနေ့ မနက်၌ ပီယာသည် မော်စကိုမြို့ဝန် မြို့စားကြီး ရှေ့စတော့ချင် စံအိမ်တော် သို့ ထွက်လာခဲ့လေသည်။ အခန့်သင့်ပင် မြို့စားကြီး ရှေ့စတော့ချင်၏ စံအိမ်တော်၌ စစ်မြေပြင်မှ နောက်ထပ် ရောက်လာသော ခြေမြန်တော် ဆက်သားတစ်ဦးကို တွေ့ ရ၏။ ထိုခြေမြန်တော်ဆက်သားမှာ မော်စကိုကပွဲများတွင် မကြာခဏ တွေ့ဖူးနေသော ပီယာ၏ အသိမိတ်ဆွေတစ်ဦး ဖြစ်လေသည်။

"ကျွန်တော့်ကိုတော့ ကျေးဇူးပြုပြီး ခွင့်ပြုဦး ရောင်းရင်းရှေ့၊ လူကြုံပါးလိုက်တဲ့စာတွေ တစ်ထပ်ကြီး ပါလာလို့ လိုက်ပို့ရဦးမယ်" ခြေမြန်တော်ဆက်သားက ဆို၏။

လူကြုံပါးလိုက်သည့် စာများအနက် နီကိုလေက ၎င်း၏ဖခင် မြို့စားကြီး ရှေ့စတော့ဗ်ထံ ပေးလိုက်သည့် စာတစ်စောင်ကို တွေ့ရ၏။ ပီယာသည် ထိုစာကို ယူလိုက် ၏။ ထို့နောက် မြို့စားကြီး ရှေ့စတော့ချင်ကလည်း ပုံ နှိပ်ပြီးဖြစ်သော ဘုရင်မင်းမြတ်၏ အမိန့်တော်ပြန်တမ်း၊ နောက်ဆုံးတပ်တွင်း ပြန်တမ်းများနှင့် မိမိထုတ်ပြန်သည့် နောက်ဆုံးပြန်တမ်းများကို ပေးလိုက်၏။ တပ်တွင်းပြန် တမ်းတစ်စောင်၌ တိုက်ပွဲတွင် ကျဆုံးသူများ၊ ဒဏ်ရာရ သူများ၊ ရာထူး၊ ဘွဲ့ထူး ချီးမြှင့်ခြင်းခံရသူများ၏ စာရင်း ပါလာသဖြင့် ပီယာကြည့်လိုက်ရာ ဩစထရိုနာတိုက်ပွဲ၌ သူရသတ္တိ ပြောင်မြောက်စွာ တိုက်ခိုက်ခဲ့ခြင်းအတွက် စတုတ္ထတန်း စိန့်ဂျော့ဒ်ရွှေတံဆိပ် ချီးမြှင့်ခြင်းခံရသော နီ ကိုလေ၏ နာမည်နှင့် မြင်းတပ်ရင်းတစ်ခုတွင် တပ်ရင်းမှူး အဖြစ် ခန့်အပ်ခြင်းခံရသော မင်းသားကလေး အင်ဒရေ တို့၏ အမည်ကို တွေ့ရ၏။ ပီယာသည် မြို့စားကြီး ရှေ့စတော့ဗ်တို့ အိမ်သားများအား မင်းသားကလေး အင်ဒရေအကြောင်းနှင့် စပ်လျဉ်း၍ တစ်စုံတစ်ရာ ပြောလို သော ဆန္ဒမရှိသော်လည်း ၎င်းတို့၏သား နီကိုလေ ဘွဲ့ထူး ဂုဏ်ထူးချီးမြှင့်ခြင်း ခံရသည့်

ဝမ်းမြောက်ဖွယ် သတင်းကို သိစေလိုသည့်အတွက် ပုံနှိပ်ပြီးဖြစ်သော တပ်တွင်း အမိန့်ပြန်တမ်း နှင့် နီကိုလေ၏စာကို မြို့စားကြီး ရော့စတော့ဗ် အိမ်သို့လူလွှတ်၍ အပို့ခိုင်းလိုက်ပြီး ဘုရင် မင်းမြတ်၏ အမိန့်တော် ပြန်တမ်းနှင့်တကွ မြို့စားကြီး ရော့စတော့ချင်၏ အမိန့်ပြန်တမ်းများ၊ အခြားအမိန့် ပြန်တမ်းများကိုမူ ညနေစာ စားမှ ယူသွားမည်ဟု ယူဆကာ မပေးဘဲ ချန်ထားလိုက်သည်။

မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင်ထံမှ ကြားရသော စကားများ၊ စိုးရိမ်ထိတ်လန့်လျက်ရှိသော မြို့စားကြီး ရော့စတော့ချင်၏အသံ၊ တပ်မတော်ထဲ တွင် အခြေအနေ ဆိုးလျက်ရှိကြောင်း အမှတ်မထင် ပြောဆိုသွား သည့် ခြေမြန်တော် ဆက်သား၏စကားများ၊ မော်စကို မြို့တွင် ပြင်သစ်သူလျှိုများ ရောက်ရှိနေပြီဆိုသည့် ကောလ ဟလသတင်းများ၊ နပိုလီယန်သည် ပီတာစဘတ် ရွှေမြို့ တော်နှင့် မော်စကိုသို့ ဆောင်းဦးပေါက်တွင် အရောက်ချီ တက်လာရန် ကြေညာထားပြီဆိုသည့် တိတ်တဆိတ် ဝေငှလျက်ရှိသော စာတမ်းများ၊ နံနက်ဖြန် တွင် ဘုန်းတော် ကြီးသောဘုရား ကိုယ်တိုင် မော်စကိုမြို့သို့ ကြွတော် မူလာမည် ဟူသော သတင်းစကားများသည် ကြယ်တံခွန် ကြီး ပေါ်ပေါက်လာပြီးချိန်၊ အထူးသဖြင့် စစ်ကြီး စတင် ဖြစ်ပွားလာချိန်မှစ၍ ပီယာ၏ရင်ထဲထွင် ယောက် ယက် ခတ်မျှ လှုပ်ရှားနေခဲ့သော ခံစားချက်များကို အသစ်ဖြစ် လာစေခဲ့ပြန်သည်။

ပီယာသည် တပ်မတော်ထဲသို့ ဝင်ရောက် အမှုထမ်း ရန် ကာလအတန်ကြာ ကပင် စဉ်းစားခဲ့၏။ သို့သော်လည်း မိမိတို့ ညီအစ်ကိုတော်ဂိုဏ်းဝင်များမှာ ထာဝစဉ် ငြိမ်းချမ်း ရေးနှင့် စစ်ပပျောက်ရေးတို့အတွက် ကြိုးပမ်းရန် ကျမ်း သစ္စာ ကျိန်ဆိုထားရသည့်အတွက် လည်းကောင်း၊ စစ် ဝတ်စုံကိုဝတ်ကာ မျိုးချစ်စိတ် စကားကို ဖောင်ဖောင်ကြီး ပြောလျက်ရှိသော မော်စကိုမြို့သားများကို တွေ့ရ သည်၌ သူတို့ကဲသို့ “ရောယောင်အုပ်စု”ထဲတွင် ပါဝင်သွားမည်ကို စိုးရိမ်

သည့်အတွက်လည်းကောင်း ပီယာသည် တပ်မတော် ထဲသို့ မဝင်ဖြစ်တော့ချေ။ တပ်မတော်ထဲသို့ ဝင်ရောက် အမှုမထမ်းဖြစ်သည့် အဓိက အကြောင်းကား မိမိသည် ဗျာဒိတ်ကျမ်းအရ ဂဏန်းအရေအတွက် ၆၆၆ ပြည့်သော လူတစ်ယောက် ဖြစ်သည်ဟူသော မရေရာသည့်အတွေး ကြောင့်ပင် ဖြစ်၏။ "ကြီးစွာသော စကားကိုလည်းကောင်း၊ ဘုရားသခင်အား ပြစ်မှားသောစကားကိုလည်းကောင်း၊ ပြောဆိုသည့် သားရဲကို နှိမ်နင်းရန်အလုပ်သည် မိမိ၏ အလုပ်ဖြစ်သည်ဟု ဗျာဒိတ်ကျမ်းက ဟောထားလျက်ရှိ သည် မဟုတ်ပါလော။ ထို့ကြောင့် ပီယာသည် မည်သည့် တာဝန်ဝတ္တရားကိုမျှ ထမ်းဆောင်ခြင်း မပြုတော့ဘဲ ဗျာဒိတ်ကျမ်းအရ ဆိုက်ရောက်လာမည့်အချိန်ကိုသာ စောင့်

# အခန်း ၂၀

တနင်္ဂနွေနေ့များ၌ မြို့စားကြီး ရော့စတော့ဗ်သည် ရင်းနှီး သော မိတ်ဆွေတစ်သိုက်ကို ညစာစားဖိတ်လေ့ရှိရာ ထို နေ့တွင်လည်း မိတ်ဆွေအနည်းငယ်ကို ညစာစားဖိတ်ထား ပြီး ဖြစ်လေသည်။

ပီယာသည် မြို့စားကြီး ရော့စတော့ဗ် အိမ်သားစု နှင့် အေးအေးဆေးဆေး စကားပြောချိန်ရရန် ခပ်စောစော ရောက်လာလေသည်။

ပီယာသည် ယခုနှစ်တွင် ပို၍ဝလာခဲ့သည်။ သို့ ရာတွင် အရပ်အမောင်းကောင်းခြင်း၊ အရိုးအဆစ်ကြီးခြင်း၊ ဤမျှလောက် လေးလံသော ကိုယ်ခန္ဓာကြီးနှင့် မလိုက် အောင် ပေါ့ပါးဖျတ်လတ်ခြင်းတို့ကြောင့် ကြည့်၍ ကောင်းရုံ မျှသာ ရှိသည်။ သို့မဟုတ်ပါက ဤမျှလောက်ဝပုံမျိုးနှင့် ဆိုလျှင် များစွာ အကျည်းတန်မည်သာ ဖြစ်လေသည်။

ပီယာသည် ပါးစပ်မှ တစ်စုံတစ်ရာကို ရေရွတ်ရင်း လှေကားအတိုင်း တက်လာခဲ့၏။ ပီယာ၏ ရထားသမား သည် စောင့်ရမည်လော၊ ပြန်ရမည်လောဟုပင် မမေးတော့ ချေ။ သူ့သခင်ပီယာသည် မြို့စားကြီး ရော့စတော့ဗ်အိမ်သို့ ရောက်လျှင် သန်းခေါင်သန်းကျော်အထိ နေမြဲဖြစ်သည်ကို ရထားသမားကလည်း သိပြီးဖြစ်၏။ မြို့စားကြီး ရော့ စတော့ဗ်အိမ်မှ အစေတော်သည် ပီယာကိုမြင်သည်တွင် ပြေးလာကာ အပေါ်ရုံအင်္ကျီကို ချွတ်ပေးပြီး ဦးထုပ်နှင့် လက်ထဲမှ တုတ်ကောက်ကို ဆီး၍ယူလိုက်၏။ ပီယာသည် ကလပ်သို့ သွားနေကျဖြစ်သည့်အတိုင်း ဦးထုပ်နှင့် တုတ် ကောက်ကို စမုတ်ဆောင်ထဲတွင် ထားပစ်ခဲ့လေ့ ရှိပေသည်။

အိမ်ထဲသို့ ဝင်လိုက်သည်နှင့် ပီယာ ပထမဆုံး တွေ့ရသူမှာ နာတာရှာ ဖြစ်၏။ ပီယာသည် စမုတ်ဆောင် ထဲတွင် အပေါ်ရုံအင်္ကျီကို ချွတ်လိုက်ရှိစဉ် ကတည်းကပင် နာတာရှာ၏အသံကို ကြားနေရသည်။ နာတာရှာသည် ပွဲတက်ဆောင်ထဲ၌ ဂီတသင်္ကေတသံများကို ရွတ်ဆိုကာ အသံလေ့ကျင့်လျက်ရှိ၏။ နာတာရှာ သီချင်းမဆိုသည်မှာ ကြာခဲ့လေပြီ။ ပီယာသည် နာတာရှာ၏ အသံကို ကြားသည် ၌ အံ့အားသင့်သွားကာ ဝမ်းအသာကြီး သာသွားမိသည်။ ပီယာသည် ပွဲတက်ဆောင်တံခါးကို အသာတွန်း၍ ဖွင့် ကြည့်လိုက်သည်။ နာတာရှာသည် ဝတ်တက်သွားစဉ်  ဝတ်သော မရန်းစေ့ရောင်ဖျော့ဖျော့ ပိုးပျော့ဝတ်စုံကိုဝတ်လျက် ခန်းဆောင်ထဲတွင် လမ်းလျှောက်ရင်း သီချင်းဆို လျက်ရှိသည်ကို တွေ့ရ၏။ တံခါးဖွင့်လိုက်သည့် အချိန် တွင် နာတာရှာသည် ပီယာဘက်သို့ ကျောပေးလျက်ရှိ၏။ နောက်သို့လှည့်လိုက်၍ ပီယာ၏ အံ့အားသင့်လျက်ရှိသော မျက်နှာကို မြင်လိုက်ရသည်နှင့် နာတာရှာသည် မျက်နှာ တွင် ရှက်သွေးဖြာလျက်ရှိရာမှ ပီယာထံသို့ ခပ်သုတ်သုတ် လျှောက်လာခဲ့သည်။

“နာတာရှာ သီချင်းပြန်ဆိုဖို့ အသံကျင့်နေတာ အစ်ကိုရဲ့” နာတာရှာက အရှက်ပြေစကားဖာလိုက်၏။ “အလကားနေတာနဲ့စာရင် တစ်ခုခု လုပ်နေတာက တော်၊ သေးတာပေါ့နော် အစ်ကို”

“အေး၊ ကောင်းတယ်”

“အစ်ကိုလာတော့ နာတာရှာ သိပ်ဝမ်းသာတာပဲ အစ်ကို၊ ဒီနေ့ နာတာရှာ သိပ်ပျော်တာပဲ” နာတာရှာက စိတ်အားထက်သန်စွာ ပြောလိုက်၏။ နာတာရှာ၌ ဤသို့ စိတ်ထက်သန်လျက်ရှိခြင်းကို မတွေ့ရသည်မှာ ကြာပေပြီ။

“ကိုကိုလဲ စိန့်ဂျော့ဆုတံဆိပ်တော် ချီးမြှင့်ခြင်း ခံရတယ် အစ်ကို၊ ကြားပြီးပလား၊ နာတာရှာတို့အတွက် ဂုဏ်ယူစရာပေါ့နော်”

“အေး ကြားပြီးပါပြီ၊ ဒီသတင်းကို အစ်ကိုပဲ ပို့ လိုက်တာပဲ၊ က် က် နာတာရှာ အလုပ် နာတာရှာ ဆက် လုပ်ပါ၊ အစ်ကိုက အနှောင့်အယှက်ပေးသလို ဖြစ်နေပြီ ထင်တယ်” ပီယာက နာတာရှာကို ပြောလိုက်ပြီး ဧည့်ခန်း ဆောင်ဘက်သို့ လှည့် ထွက်ရန် ပြင်လိုက်၏။

နာတာရှာက တားလိုက်၏။ “အစ်ကို”

နာတာရှာ၏ မျက်နှာသည် ရှက်သွေးဖျန်းလျက် ရှိ၍ မျက်လုံးများကလည်း ပီယာကို စူးစိုက်လျက်ရှိကြ သည်။

“အစ်ကို၊ နာတာရှာ ခုလို သီချင်းဆိုတာ အပြစ်ရှိ သလား အစ်ကို”

“အလို ကိုယ့်ဘာသာကို သီချင်းဆိုတာ ဘာဖြစ်လို့ အပြစ်ရှိရမှာလဲ၊ ဘာ အပြစ်မှ မရှိဘူး၊ နေစမ်းပါဦး အစ်ကို့ကို ဘာဖြစ်လို့ ဒီမေးခွန်းကို မေးရတာလဲ”

"ဘာမှတော့မဖြစ်ပါဘူး အစ်ကို" နာတာရှာက ခပ်သွက်သွက် ဖြေလိုက်၏။ "ဒါပေမဲ့ နာတာရှာရဲ့ စိတ်ထဲ မှာ အစ်ကို သဘောမကျတဲ့ အလုပ်တစ်ခုကို နာတာရှာ မလုပ်သင့်ဘူးလို့ ထင်နေတယ်၊ အစ်ကိုတစ်ယောက်ကို နာတာရှာ ခြွင်းချက်မရှိ ယုံပါတယ် အစ်ကို၊ အစ်ကိုဟာ နာတာရှာ့အဖို့ အင်မတန် အရေးကြီးပါတယ်၊ အစ်ကိုဟာ နာတာရှာကို ကူညီခဲ့တဲ့သူ၊ ကယ်တင်ခဲ့တဲ့သူ ဆိုရင်လဲ မမှားပါဘူး၊ အစ်ကို ကျေးဇူးတွေဟာလဲ နာတာရှာအဖို့ ဆပ်လို့ မကုန်နိုင်အောင် ကြီးမားပါတယ် အစ်ကို" 'ပီယာသည် နာတာရှာ၏ စကားများကို ကြားလိုက် ရသည့်အခါ၌ မျက်နှာကြီး နီရဲလာလေသည်။ သို့ရာတွင် နာတာရှာကမူ သတိထားမိခြင်းမရှိဘဲ ဆက်၍ ပြောလျက် ရှိ၏။

"သူ သူ၊ အင်ဒရေ (နာတာရှာသည် နာမည်ကို ခပ်မြန်မြန် ရွတ်ဆိုလိုက်၏) ရုရှားပြည်ထဲ ပြန်ရောက်နေ ပြီလို့ တပ်မတော် အမိန့်ပြန်တမ်းထဲမှာ တွေ့လိုက်တယ် အစ်ကို၊ အစ်ကို ဘယ်လိုသဘောရသလဲဟင်" , . နာတာရှာသည် စကားကို ခပ်ဖြည်းဖြည်းပြောနေ ပါက မထွက်ရဲဖြစ်နေမည် စိုးသကဲ့သို့ ခပ်သွက်သွက် မေးလျက်ရှိသည်။

"သူ သူ၊ နာတာရှာကို ခွင့်လွှတ်ပါဦးမလား အစ်ကို၊ သူ နာတာရှာ့အပေါ်မှာ အကြီးအကျယ် စိတ်နာ သွားပြီ ထင်တယ်နော် အစ်ကို၊ အစ်ကို ဘယ်လိုသဘောရသလဲ ဟင်၊ အစ်ကို ဘယ်လိုထင်သလဲ"

"အစ်ကိုအထင်ကတော့" ပီယာက ပြန်ပြောလိုက် ၏။ "သူ့အနေနဲ့ ဘာမှ ခွင့်မလွှတ်နိုင်စရာ မရှိပါဘူး၊ အစ်ကိုသာ သူ့နေရာရောက်ရင်"

ပီယာသည် ဤသို့ပြောရင်း နာတာရှာအား ချော့ မော့နှစ်သိမ့်ခဲ့ခြင်းကို ပြန်၍ အမှတ်ရလာလေသည်။ ထို စဉ်က မိမိသည် ယခုကဲ့သို့ သားမယားနှင့် မဟုတ်ဘဲ ကမ္ဘာလောကတွင် အတော်ဆုံးသော လူတစ်ယောက်ဖြစ်၍

လွတ်လွတ်လပ်လပ် ဖြစ်ခဲ့ပါက နာတာရှာ၏အချစ်ကို တောင်းခံမိမည်ဟု ပြောခဲ့ဖူး၏။ ပီယာ၏စိတ်ထဲတွင် ထိုစဉ်က ဖြစ်ပေါ်ခဲ့သော ကြင်နာသနားခြင်းမျိုး၊ နူးညံ့သိမ်မွေ့ခြင်းမျိုး၊ ချစ်ခြင်းမေတ္တာမျိုးသည် ပြန်၍ပေါ်လာ ကြကာ ထိုစဉ်က စကားများသည်လည်း နှုတ်ခမ်းဖျားဆီသို့ ရောက်လာကြ၏။ သို့ရာတွင် နာတာရှာက ထိုစကားများ ကို ပြောချိန်မပေးဘဲ ဆက်၍ ပြောလိုက်သည်။

"ဟုတ်တယ် အစ်ကို၊ အစ်ကိုသာ၊ အစ်ကိုသာ ဆိုရင် (နာတာရှာသည် အစ်ကိုဆိုသော စကားလုံးကို ကြည်နူးစွာ ရွတ်ဆိုလိုက်၏) ဒီလိုဖြစ်မှာ မဟုတ်ဘူး၊ အစ်ကိုဟာ တစ်ဖက်သားကို ကြင်နာတယ်၊ သနားတယ်။ သဘောထားကြီးတယ်၊ စိတ်သဘောကောင်းတယ်၊ဒီနေရာ မှာ အစ်ကို့ထက်သာတဲ့လူကို နာတာရှာ တစ်ယောက်မှ မတွေ့ဖူးသေး ဘူး၊ အစ်ကို့ထက်သာတဲ့လူ မရှိနိုင်ဘူးလို့လဲ နာတာရှာ ယုံတယ်၊ အဲဒီတုန်းကရော၊ အခုရော အစ်ကိုများ မရှိရင်လေ နာတာရှာ့ဘဝဟာ ဘယ်အခြေထိ ရောက်သွား မလဲဆိုတာ နာတာရှာ ပြန်တောင်မတွေးရဲဘူး၊ ဘာဖြစ် လို့လဲ ဆိုတော့"

နာတာရှာ၏ မျက်လုံးတွင် မျက်ရည်များ ဝဲလာ ကြ၏။ နာတာရှာသည် စကားကို ဆုံးအောင်မပြောတော့ဘဲ ချာခနဲ လှည့်၍ထွက်သွားကာ ဂီတလေ့ကျင့်ခန်းများကို ကြိုးစား၍ နှလုံးသွင်းကြည့်သည်။ ထို့နောက် ခပ်တိုးတိုး သီချင်းဆိုကျင့်လျက်ရှိကာ ပွဲတက်ဆောင်ထဲတွင် ခေါက်တုံ့ ခေါက်ပြန် လျှောက်လျက်ရှိလေသည်။

ထိုအခိုက် ပီတာသည် ဧည့်ခန်းဆောင်ဘက်မှ , ပြေးဝင်လာလေသည်။ . ပီတာမှာ ယခုအချိန်တွင် အသက် ဆယ့်ငါးနှစ် အရွယ် လူပျိုကြီးဖားဖားဖြစ်လျက် ရှိလေပြီ။ ပြည့်ဝန်းနီရဲ သော နှုတ်ခမ်းများ၊ နှင်းဆီသွေးစို့သော အသားအရေတို့ ဖြင့် လှပချောမောသူဖြစ်၍ နာတာရှာနှင့် ခပ်ဆင်ဆင် တူ၏။ ပီတာမှာ တက္ကသိုလ်သို့

ဝင်ရန် စာမေးပွဲဖြေဆို လျက်ရှိရာမှ မကြာသေးမီက ၎င်း၏သူငယ်ချင်း အိုဘို လင် စကီနှင့်အတူ မြင်းတပ်ထဲသို့ ဝင်ရောက်ရန် တိတ် တိတ်ပုန်း ကြံစည်ထားခဲ့သည်။

ပီတာသည် ထိုအကြောင်းကို ပီယာအား ပြောဆို ရန် ဝင်လာခဲ့ခြင်းဖြစ်၏။ ပီတာသည် မိမိတို့အား မြင်း တပ်တွင် ဝင်ခွင့်ပြု မပြုကို ပီယာအား စုံစမ်းပေးရန် ပြောဆိုခြင်း ပြုလေသည်။

ပီယာသည် ဧည့်ခန်းဆောင်ထဲ၌ ခေါက်တုံ့ ခေါက် ပြန် လမ်းလျှောက်ရင်း ပီ တာ၏စကားများကို နားထောင် လျက် ရှိ၏။ ပီတာသည် ပီယာကိုကြည့်၍ အားမ လို အားမရဖြစ်လာကာ ပီယာ၏လက်မောင်းများကို ရင်း မေးသည်။

"အစ်ကို လုပ်ပါဗျ။ ကျွန်တော်တို့ ကိစ္စကို ပြော ပြစမ်းပါ၊ တပ်ထဲ ဝင်ခွင့်ရပါ့ မလားဟင် အစ်ကို၊ ပြောစမ်း ပါဗျာ၊ အစ်ကိုကလဲ"

"အေးပါ ညီရာ၊ အစ်ကို ဒီနေ့ စုံစမ်းကြည့်ပါဦး မယ်"

ထိုအခိုက်တွင် မြို့စားကြီး ရော့စတော့ဗ် ရောက် လာလေသည်။

"ဘယ့်နှယ်လဲ တူတော်မောင်၊ ဘုန်းတော်ကြီးသော ဘုရားရဲ့ အမိန့်တော်ပြန်တမ်းကို ရခဲ့ပြီလား၊ မြို့စား ကတော်ကြီးကတော့ ဝတ်ပြုသွားရင်း စစ်အောင်ဆုတောင်း ကို ကြားခဲ့ရပြီတဲ့၊ စစ်အောင်ဆုတောင်းက တယ်ပြီး အဓိပ္ပာယ် လေးနက်လှဆိုပါကလား တူတော်မောင်"

"ဟုတ်ကဲ့၊ ရခဲ့ပြီးပါပြီ ဦးရီးတော်၊ ဘုန်းတော်ကြီး သော ဘုရားကိုယ်တော်တိုင် မနက်ဖြန်မှာ မော်စကို ကို ကြွရောက်လာမယ်လို့လဲ ကြားရပါတယ်၊ ဘုန်း တော်ကြီး သော ဘုရား ကြွရောက်လာရင် မှူးကြီးမတ်ကြီးတွေရဲ့ စည်းဝေးသဘင် ကြီး တစ်ခုလ် ကျင်းပဖို့ စီစဉ်ထားပါတယ်။

ထောင်စုတစ်စုကို တပ်သားဆယ်ယောက်ကျသွင်းဖို့လဲ ပြောနေကြပါတယ်၊ သော် ဦးရီးတော်ကိုတောင် ဝမ်း မြောက်စကား မပြောရသေးဘူး”

“အိမ်း ဝမ်းသာပါတယ်ဗျာ၊ ဒါထက် တပ်တော် များရဲ့ အခြေအနေကော ဘာများထူးသေးသတဲ့လဲ”

“တပ်တော်များကတော့ တစ်ဆုတ်တည်း ဆုတ်နေ ရတယ်လို့ ဆိုပါတယ်၊ ခုဆိုရင် ရန်သူတပ်များ စမိုးလင့် နယ်စပ်နားအထိ ရောက်လာကြပြီလို့ ကြားရပါတယ်”

ပီယာက ပြန်ပြောလိုက်၏။

“အလို၊ ဘုရား ဘုရား” မြို့စားကြီးက မြည်တမ်း လိုက်သည်။ “ဘုန်းတော်ကြီးသော ဘုရားရဲ့ အမိန့်တော် ပြန်တမ်းကကော မှန်းစမ်းပါဦး”

”

“ဟုတ်ကဲ့၊ ပါပါတယ် ဦးတော်” `ပီယာသည် အိတ်များထဲသို့ နှိုက်၍ အမိန့်တော် ပြန်တမ်းစာကို လိုက်ရှာသည်။ သို့ရာတွင် မတွေ့ချေ။ ပီယာသည် မကျေနပ်သေးသဖြင့် အိတ်များကို လျှောက် စမ်းရင်းက ခန်းဆောင်ထဲသို့ ဝင်လာကာ မြို့စားကတော် ကြီး၏ လက်ခုံကို နမ်းရှုပ် နှုတ်ဆက်လိုက်ပြီးနောက် နာတာရှာများ ဝင်လာလေမည်လားဟူသော မျှော်လင့်ချက် ဖြင့် ဟိုဟိုသည်သည်ကို လှမ်းကြည့်လိုက်သည်။ နာတာရှာ မှာ သီချင်းဆို လေ့ကျင့်ခန်း ပြီးသွားပြီဖြစ်သော်လည်း ဧည့်ခန်းဆောင်ဘက်သို့ ထွက်မလာသေးချေ။

“ဩော် ဒုက္ခပါပဲ၊ သေသေချာချာ ယူလာခဲ့ရက် သားနဲ့၊ ဘယ်နားရောက်နေမှန်း မသိပြန်ဘူး”

“အင်း၊ တူတော်မောင့်မလဲ အမြဲတမ်း တစ်ခုခု တော့ ပျောက်နေတာချည်းပဲ၊ မေ့ပဲမေ့တတ်လွန်းတယ်” မြို့စားကတော်ကြီးက ပြောလိုက်၏။

နာတာရှာသည် စိတ်လှုပ်ရှားလျက်ရှိသော မျက်နှာ ထားဖြင့် ဧည့်ခန်း ဆောင်ထဲသို့ ဝင်လာ၍ ထိုင်လိုက်ပြီး နောက် ပီယာကို ငေးကြည့်နေသည်။ ဧည့်ခန်းဆောင်ထဲသို့ နာတာရှာ ဝင်လာသည်နှင့်တစ်ပြိုင်နက် ညိုမှောင်လျက် ရှိသော ပီယာ၏မျက်နှာသည် ဝင်းထိန်လာ၏။ ပီယာသည် အမိန့်တော်ပြန်တမ်းကို ရှာဖွေလျက်ရှိရင်းကလည်း နာတာ ရှာကို မကြာခဏ လှမ်းကြည့်မိသည်။

“မပါလာတော့ဘူး ခင်ဗျ၊ အိမ်မှာမေ့ကျန်ရစ်ပြီ ထင်တယ်၊ ကိစ္စမရှိဘူးလေ ဦးရီးတော်၊ ကျွန်တော် အိမ် ' ပြန်ယူလိုက်မယ်”

“အိမ်ပြန်နေရင် တူတော်မောင် ဘယ်အချိန်မီတော့ မလဲ၊ ညစာ နောက်ကျ နေတော့မှာပေါ့”

“ဩော် ဒုက္ခပါပဲ၊ ကျွန်တော့် ရထားသမားကလဲ ပြန်သွားပြီ ထင်တယ်”

ထိုအခိုက် ဆွန်ယာသည် စမုတ်ဆောင်ဘက်တွင် ပီယာ မေ့၍များ ထားခဲ့ လေသလောဟု အမိန့်တော်ပြန်တမ်း စာရွက်များကို သွား၍ ရှာဖွေသည်တွင် ဦးထုပ်အနားပတ် ကြား၌ သေသေချာချာ ထိုးထည့်ထားသည့် အမိန့်တော် ပြန်တမ်း စာရွက်များကို တွေ့လာခဲ့လေသည်။ ပီယာက ( အမိန့်တော် ပြန်တမ်းကို ဖတ်ပြရန် ဟန်ပြင်လိုက်၏။

“နေဦး တူတော်မောင်၊ အခုမဖတ်နဲ့ဦး၊ ညစာစား ပြီးမှ” မြို့စားကြီး ရော့စ တော့ဗ်က အမိန့်တော်ပြန်တမ်း ကို ဖတ်ရခြင်းကြောင့် ခံစားရမည့် ကြည်နူး ရွှင်လန်းခြင်း ကို တွေးမိကာ ညစာစားပြီးမှ ဇိမ်ကျကျ နားထောင်မည် ဟူသော သဘောဖြင့် ဟန့်တားလိုက်သည်။

ညစာစားပွဲ၌ စိန့်ဂျော့ဆုတံဆိပ်တော်ကြီး ချီးမြှင့် ခြင်းခံရသည့် မော်ကွန်းဝင် သူရဲကောင်း နီကိုလေကို ရည်မှန်းဆုတောင်းသောအားဖြင့် ရှန်ပိန်အရက်ကို သောက် ကြ၏။ ဂျော့ဂျီယန်မင်းသမီးကြီး နာမကျန်းဖြစ်လျက် ရှိခြင်း၊ ပြင်သစ်သမားတော် မက်တီးဗီးယား မော်စကို မြို့မှ ပျောက်ကွယ်သွားခြင်း၊ မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင်၏အိမ်သို့ ပြင်သစ် "သူလျှို" ဂျာမန်လူမျိုး များကို ဖမ်းဆီးခေါ်ဆောင်လာခြင်း၊ (ဤသတင်းကို မြို့စားကြီး ရော့စတော့ချင်ကိုယ်တိုင်က ပြောခြင်းဖြစ်သည် ဆို၏။) ထို့နောက် မြို့စားကြီး ရော့စတော့ချင်က ထို ဂျာမန်အား "သူလျှို' မဟုတ်ဟုဆိုကာ ပြန်လွှတ်လိုက်ခြင်း စသည့် မြို့ထဲတွင် ဖြစ်ပွားလျက်ရှိသော သတင်းများကို ရှင်ရှင်က ပြောပြ၏။

"အင်း ခုတလောမှာ အဖမ်းအဆီးတွေကလဲ သောက်သောက်လဲပါကလား၊ အိမ်က ကြင်ရာတော် မြို့စားကတော်ကြီးကိုတောင် ပြင်သစ်စကားမပြောဖို့ သတိပေးထားရတယ်၊ ဒီအချိန်မှာ ပြင်သစ်စကားပြောလို့ သိပ်မသင့်ပေဘူး ထင်တယ်ဗျ" မြို့စားကြီး ရော့စတော့ဗ် က ပြောလိုက်သည်။

"မင်းသားကြီး ဂိုလစ်ဆင် ရုရှားစာသင်နေတယ် ဆိုတဲ့ သတင်းကိုကော ကြားပြီးကြပြီလား၊ ရုရှားစာသင်ဖို့ ဆရာတစ်ယောက် ငှားထားတယ်ဆိုပဲ၊ ဟုတ်တယ်နော်၊ ခုအချိန်မှာက လမ်းမမှာ ပြင်သစ်စကားပြောလို့ သိပ် စိတ်ချရတဲ့အချိန် မဟုတ်ဘူး၊ မတော်တဆများ ပြင်သစ် ဘက်သားဆိုပြီး အထင်ခံရမှဖြင့်"

ရှင်ရှင်က ပြောလိုက်သည်။

"တူတော်မောင်ကော တပ်မတော်ထဲ စာရင်း မသွင်းသေးဘူးလား၊ စစ်မှုထမ်းဖို့ခေါ်ရင်တော့ တူတော် မောင်လဲ မြင်းပေါ် တက်ရပေလိမ့်မယ်ဗျ" မြို့စားကြီး ရော့စတော့ဗ်က ပီယာဘက်သို့ လှည့်၍ မေးလိုက်သည်။

ပီယာသည် ညစာစားချိန်တစ်ချိန်လုံး တိတ်ဆိတ် စွာ ထိုင်ကာ တွေးလျက်ရှိ၏။ ပြောဆိုလျက်ရှိသော စကားများကို ကြားဟန်မရှိချေ။ ပီယာသည် မြို့စားကြီး ရော့စတော့ဗ်ကို ဆတ်ခနဲ မော့၍ ကြည့်လိုက်သည်။

"သြော် စစ်မှုတော်ထမ်းဖို့လား၊ မဖြစ်ပါဘူး ဦးရီးတော်၊ ကျွန်တော့်လို လူမျိုးဟာ ဘယ်လိုလုပ်ပြီး စစ်သားကောင်းဖြစ်မှာလဲ၊ ဒါပေမဲ့ ခက်သားကလား ဦးရီးတော်၊ လောကကြီးက မထင်တာတွေချည်းပဲ ဖြစ်နေ တော့ တစ်နေ့မှာ စစ်ထဲမရောက်ဘူးလို့လဲ မပြောနိုင်ပေဘူး ပေါ့၊ ကျွန်တော်ဖြင့် ဘာကိုမှ မစဉ်းစားတတ်အောင် ဖြစ်နေပြီ၊ ကျွန်တော့် အလိုအရဆိုရင်တော့ စစ်တိုက်တဲ့ အလုပ်ကို နည်းနည်းလေးမှ ဝါသနာမပါလှပါဘူး၊ ဒါပေမဲ့ ခုခေတ်က ကိုယ့်ကိုယ်ကိုတောင် အပ်ချမတ်ချပြောလို့ မရတဲ့ခေတ် မဟုတ်လား"

ညစာ စားပြီးသည့်နောက်၌ မြို့စားကြီး ရော့စ တော့ဗ်သည် ပက်လက်ထိုင်ဖုံးတစ်လုံးတွင် ထိုင်လျက် စာဖတ်ကောင်းသည်ဟု နာမည်ကြီးလျက်ရှိသော ဆွန်ယာ ကိုခေါ်၍ ဘုရင်ကေရာဇ်၏ အမိန့်တော်ပြန်တမ်းကို ဖတ်စေသည်။

"ဘိုးလောင်းတော် ဘေးလောင်းတော်များ၏ ရာဇ ပူရ နန်းမချက်ချာတည်ရာဌာနဖြစ်သော မော်စကိုမြို့သူ မြို့သားအပေါင်းတို့အား ဘုန်းတော်ကြီးမြတ်တော်မူသော ဘုရား သိစေအပ်သည့် အမိန့်တော်" ။

"ရန်သူ ပြင်သစ်တို့သည် ရုရှားနိုင်ငံတော်ကြီး၏ နယ်နိမိတ်ကို ချဉ်းနင်းကျော်ဖြတ်ကာ တပ်လုံး တပ်ရင်းနှင့် စစ်ချီလာချေပြီ၊ ရန်သူပြင်သစ်တို့သည် ငါတို့၏ ချစ်မြတ်နိုး သော နိုင်ငံတော်ကြီးကို ထောင်းထောင်းကြေ ဖျက်ဆီး ရန်ယခုကဲ့သို့ စစ်ချီလာခြင်း ဖြစ်သည်"

ဆွန်ယာသည် အမိန့်တော်ပြန်တမ်းကို ဌာန် ကရိဏ်းကျကျ ဖတ်လျက်ရှိ၏။ မြို့စားကြီးသည် မျက်လုံး များကို မှိတ်ကာ နားထောင်လျက်ရှိရာမှ အချို့စာပိုဒ်များသို့ ရောက်သည့်အခါတွင် မကြာမကြာ သက်ပြင်းချတတ် သည်။

နာတာရှာကား ကိုယ်ကို မတ်မတ်ထား၍ ထိုင် လျက်ရှိရာမှ ဖခင်မြို့စားကြီးနှင့် ပီယာတို့ကို မကြာခဏ လှမ်းကြည့်လျက်ရှိ၏။

ပီယာသည် မိမိအား နာတာရှာက ကြည့်နေခြင်း ကို သတိပြုမိသည့်အတွက် မည်သည့်အရာကိုမျှ မကြည့် ဘဲ မျက်လွှာကို ချထားလိုက်သည်။ မြို့စားကတော်ကြီး မှာမူ ခေါင်းကို ဖြည်းညင်းစွာ ယမ်းနေရာမှ အမိန့်တော်ပြန်တမ်းထဲတွင် မခံမရပ်နိုင်သော အချက်အလက်များ ပါလာတိုင်း စိတ်ဆိုးမာန်ဆိုးဖြင့် ဆတ်ခနဲ ဆတ်ခနဲ ယမ်းလိုက်သည်။ အမိန့်တော်ပြန်တမ်းပါ အချက်တို့ကို ကြည့်၍ မိမိသား နီကိုလေတို့ ရင်ဆိုင်လျက်ရှိသည့် ဘေးအန္တရာယ်ကြီးသည် မည်မျှ ကြီးမားကြောင်းကိုလည်း သဘောပေါက်လာလေသည်။ ခပ်မဲ့မဲ့ပြုံးရင်း နားထောင် လျက်ရှိသော ပိုင်ရှင်မှာ ရယ်စရာပြောရန် ချက်ကောင်းကို စောင့်လျက်ရှိ၏။ ဆွန်ယာ၏ စာဖတ်သံသည်လည်း ကောင်း၊ မြို့စားကြီး ရှေ့စတော့ဗ်၏ ထင်မြင်ချက်သည် လည်းကောင်း၊ အမိန့်တော်ပြန်တမ်းသည် လည်းကောင်းရှင်ရှင်အဖို့ ရယ်ဖွယ်ဖြစ်လျက်ရှိရာ အားမနာတမ်း ရယ် ရမည်သာဆိုလျှင် ထိုအရာများထက် ရယ်ဖွယ်ကောင်းသော အရာ ရှိတော့မည် မဟုတ်ချေ။ “

ဤသို့ဖြင့် ရုရှားနိုင်ငံတော်ကြီးကို အန္တရာယ်များ ခြိမ်းခြောက်လျက်ရှိကြောင်း၊ ဘုန်းတော်ကြီးသော ဘုရား သည် မော်စကို မြို့သူမြို့သားများအထူးသဖြင့် မော်စကို ရှိမှူးကြီးမတ်ကြီး မင်းမျိုးမင်းနွယ်များအား များစွာ ယုံကြည်ကိုးစားတော်မူကြောင်း စသည်များကို ဖတ်ပြလျက် ရှိလေသည်။ ထို့နောက်

ဆွန်ယာသည် မိမိအား အားလုံး က အထူးဂရုစိုက် နားထောင်လျက်ရှိခြင်းကို တွေ့ရသဖြင့် . ပိုမို အားတက်လာကာ အသံကိုမြှင့်၍ ဆက်ဖတ်လိုက်ပြန် သည်။

"ရန်သူ၏စစ်ကြောင်းတွင် ခုခံလျက်ရှိသော အချိုး ကျ စစ်သည်ထည့်ဝင်ခြင်း၊ နောင်တွင် ပေးအံ့ဆဲဆဲဖြစ် သော အချိုးကျစစ်သည်ထည့်ဝင်ခြင်း စသည့် ကိစ္စများနှင့် စပ်လျဉ်း၍ ညွှန်ကြားစီစဉ်ဖွယ် ရှိသည်များကို ညွှန်ကြား စီစဉ်ခြင်း ပြုရန်အတွက်လည်းကောင်း၊ နိုင်ငံသူ နိုင်ငံသား များနှင့် စည်းဝေးတိုင်ပင်ခြင်း ပြုရန်အတွက်လည်းကောင်း၊ ဘုန်းတော်ကြီးမြတ်သော ရွှေနန်းရှင်ဘုရားသည် မော် စကိုမြို့နှင့်တကွ နိုင်ငံတော် လေးခွင်လေးရပ်သို့ လှည့် လည်တော်မူမည်၊ ရန်သူက ငါတို့နိုင်ငံသူ နိုင်ငံသားများထံ ကျရောက်ရန် ကြိုးပမ်းလျက်ရှိသော ပျက်စီးခြင်းဘေးသည် ရန်သူ၏ ခေါင်းပေါ်သို့ ပြန်လည်သက်ရောက်စေသတည်း၊ သူ့ကျွန်အဖြစ်မှလွတ်သော ဥရောပတိုက် တစ်တိုက်လုံး သည် ရုရှားနိုင်ငံ၏ ဘုန်းတန်ခိုးတော်ကို ကောင်းချီး အနုမောဒနာ ခေါ်စေသတည်း"

"ဟုတ်တယ်၊ ဒီလို စာတော်မျိုးမှ ဇာတိမာန်ကို တက်ကြွစေနိုင်တော့မပေါ့" မြို့စားကြီး ရော့စတော့ဗ်က မျက်လုံးဖွင့်ကြည့်၍ ဆိုလိုက်ပြီးနောက် နှာပြင်းပြင်း နှာ၀ တွင် ရှူလိုက်သကဲ့သို့ ဆက်တိုက် ချေဆတ်လျက်ရှိ၏။

"ဘုန်းတော်ကြီးသော ဘုရားကသာ အမိန့်တော်ရှိလိုက် စမ်းပါ၊ ကျုပ်တို့တစ်တွေက ဦးဆွေးဆံမြည့် အမှုတော် ထမ်းဖို့ အဆင်သင့်ပဲ၊ အသက်ကို စွန့်ရတော့ကော ဘာ အရေး"

ရှင်ရှင်သည် မြို့စားကြီး ရော့စတော့ဗ်၏ ဇာတိ သွေး ဇာတိမာန်ကို ကြည့်ကာ တစ်စုံတစ်ရာ ရယ်စရာ ပြောတော့မည်ဟု ဟန်ပြင်လိုက်၏။ သို့ရာတွင် နာတာရှာ သည် ထိုင်နေရာမှ ဖခင်မြို့စားကြီးအနီးသို့ ပြေးလာလျက် - "ဟုတ်တယ်၊ ဒါမှ တို့ဖေဖျား" ဟုဆိုကာ ဖခင် မြို့စားကြီး၏ပါးကို နမ်းလိုက်ပြီးနောက် စိတ်

ကြည်လင် ရွှင်ပျသည့်အခါများတွင် ဖြစ်ပေါ်တတ်သော ကန့်ကျ အမူအရာ ကလေးဖြင့် ပီယာကို လှမ်းကြည့်လိုက်သည်။

"ဟုတ်ပါ့ဗျာ၊ တူမတော်အမြင်မှာတော့ တကယ့် မျိုးချစ်ကြီးပေါ့ ဟုတ်စ" ရှင်ရှင်က ပြောလိုက်၏။ နာတာ ရှာက မခံချင်သောအသံဖြင့်

"နာတာရှာက မျိုးချစ်ပုဂ္ဂိုလ်လို့လဲ မဆိုသေးပါ ဘူး ဦးရီးတော်၊ ဦးရီးတော် တစ်ယောက်ကတော့ ကျီစား ဖို့လောက်ကိုပဲ စိတ်ကူးနေတော့တာပဲ၊ ဒီလို အရေးတော် ပေါ်ခိုက်မှာ ဦးရီးတော်မို့လို့ ကျီစားဖို့ စိတ်ကူးရတတ်တယ်"

"ကျီစားစမ်းပါစေ သမီးထွေးရဲ့ ၊ သူ့မှာ ဒီအလုပ်ပဲ ရှိတယ် မဟုတ်လား" မြို့စားကြီး ရော့စတော့ဗ်က ပြော လိုက်၏။

"အမိန့်တော်ပြန်တမ်းထဲမှာ "စည်းဝေးတိုင်ပင်ခြင်း ပြုရန်အတွက် လည်းကောင်း" ဆိုတဲ့ စကားပါတယ်နော် ဦးရီးတော်" ပီယာက မေးလိုက်၏။

"ပါစမ်းပါစေ၊ ဘာအတွက်ပဲဖြစ်ဖြစ် ဘုန်းတော် ကြီးသော ဘုရားကြွလာဖို့ သာ ပဓာနပါ"

ထိုအခိုက်တွင် အားလုံးက သတိမထားမိကြသော ပီတာသည် နီမြန်းလျက် ရှိသော မျက်နှာဖြင့် ဖခင်မြို့စား ကြီးအနီးသို့ ရောက်လာကာ တုန်တုန်ယင်ယင် ဖြင့်

"ဖေဖျားနဲ့ မေဖျားတို့ အားလုံး စုံစုံညီညီရှိတုန်းမှာ ပြောပါရစေ၊ ကျွန်တော် တို့ တပ်မတော်ထဲ ဝင်တော့မယ်၊ ဒီလို အရေးတော်ပေါ်တုန်းမှာ"

မြို့စားကတော်ကြီးသည် အံ့အားသင့်သွားပြီးမှ ဒေါသထွက်လျက်ရှိသော အမူအရာဖြင့် မြို့စားကြီးဘက်သို့ လှည့်ကြည့်လိုက်၏။

”ကဲ ဘယ့်နှယ့်ရှိစ၊ ဖအေကြီးကိုယ်တိုင်က ဒီ လောက် ဖြစ်နေတာကိုး”

မြို့စားကြီး ရှော့စတော့ဗ်မှာ ယခုအချိန်၌ စောစော ကလောက် စိတ်ခေတ် ပြင်းထန်ခြင်း မရှိတော့ဘဲ ငြိမ်သက် သွားလေသည်။

“အေး၊ တိုင်းပြည်အတွက် အမှုထမ်းတယ်ဆိုတာ ကောင်းသကွယ့်၊ ဒါပေမဲ့ သားထွေးက ငယ်ပါသေးတယ် ကွာ၊ စာသင်ပါဦး”

“မဖြစ်ဘူး ဖေဖျား၊ ကျွန်တော် မငယ်တော့ပါဘူး၊ အိုဘိုလင်စကီတောင် ကျွန်တော့်ထက် ငယ်သေးတာပဲ။ အိုဘိုလင်စကီလဲ တပ်တော်ထဲ လိုက်တော့မယ်၊ ပြီးတော့ ကျွန်တော် စာသင်ချင်စိတ်လဲ မရှိတော့ဘူး ဖေဖျား၊ ခုလို” ပီတာ၏မျက်နှာသည် ပို၍ နီမြန်းလာကာ ချွေးသီး ချွေးပေါက်တို့ စီးကျလာ၏။

“ခုလို အဖနိုင်ငံတော်ကြီးမှာ အရေးတော်ပေါ်နေ ချိန် ကျွန်တော် စာမသင် ချင်ဘူး”

“အို မသင်လို့ မဖြစ်ဘူးလေ၊ သင်ရမှာပေါ့”

“ဖေဖျားပဲ ခုနက ပြောတယ်မဟုတ်လား၊ နိုင်ငံ တော်ကြီးအတွက် အစစအရာရာ စွန့်လွှတ်ရဲရမယ်၊ ဦး ဆွေးဆံမြည့် ထမ်းရွက်ရမယ်၊ အသက်ကို တောင် စွန့်ရမယ်

”ပီတာ တိတ်စမ်း၊ နောက်ထပ်မပြောနဲ့” မြို့စား ကြီး ရှော့စတော့ဗ်က ငေါက်လိုက်ပြီးနောက် မြို့စားကတော် ကြီးကို လှမ်းကြည့်လိုက်၏။ မြို့စား ကတော်ကြီးကား မျက်နှာဖြူဖပ်ဖြူရော် ဖြစ်လျက် သားထွေးကို စိုက်ကြည့် နေသည်။

"နောက်တော့ ဖေဖျား ပြောပြမယ်၊ ဟောဒီက အစ်ကိုကလဲ ပြောပြလိမ့်မယ်၊ ဘယ့်နှယ်ဗျာ၊ လူက အမေ့ နို့အပ်တော်တောင် မပျောက်သေးဘူး စစ်ထဲဝင်ရမယ်လို့ ပဲ၊ သွား နောက်တော့ ဘာလို့ မလိုက်ရသလဲဆိုတာကို ပြောပြမယ်"

မြို့စားကြီးသည် တစ်ရေးတမော မအိပ်ခင် ဖတ် ရန်အတွက် အမိန့်တော်ပြန်တမ်းစာများကို ကောက်ယူ လိုက်ပြီး အခန်းအပြင်သို့ ထွက်ရန် ဟန်ပြင်လိုက်ရင်း

"ကဲ တူတော်မောင်၊ ဆေးလိပ်ကလေး ဘာလေး သောက်ရင်း စကားပြောကြဦးစို့" ပီယာသည် လိုက်ရမည်လောဟု စိတ်ထဲတွင် ဝေခွဲမရအောင် ဖြစ်လျက်ရှိ၏။ နာတာရှာ၏ ထူးထူးခြား ခြား တောက်ပလျက်ရှိသော မျက်လုံးများသည် သာမန် ကြည့်ပုံမျိုးထက် လွန်ကဲသောအကြည့်ဖြင့် ရွှန်းရွှန်းစားစား ကြီး စူးစိုက်လျက်ရှိခြင်းကြောင့် ပီယာသည် ပြန်ရကောင်း နိုးနိုး၊ ဆက်နေရကောင်းနိုးနိုးဖြင့် ချီတုံချတုံ ဖြစ်လျက် ရှိလေသည်။

"နေပါစေတော့ ဦးရီးတော်၊ ကျွန်တော် ပြန်ဦးမှပဲ"

"အို ပြန်တော့မလို့လား၊ အေးအေးဆေးဆေး လာတာ မဟုတ်ဘူးလား၊ ခုတလော တူတော်မောင် အရင်တုန်းကလို မဟုတ်ဘူး၊ ကျုပ်တို့အိမ်ကိုလဲ သိပ် မလာတော့ဘူး၊ ဟောဒီ သမီးထွေးကဖြင့်" မြို့စားကြီးက နာတာရှာကို လက်ညှိုးထိုး၍ ပြလိုက်၏။ "သူ့အစ်ကို မလာရင် တမျှော်မျှော်နဲ့ပဲ၊ တူတော်မောင် ရောက်မှပဲ ရွှင် ရွှင်လန်းလန်း ရှိပေတော့တယ်"။

"ဟုတ် ဟုတ်ကဲ့၊ ကျွန်တော့်မှာ ကိစ္စတစ်ခုရှိတာ မေ့ မေ့နေတယ်ခင်ဗျ ဦးရီးတော်၊ မပြန်လို့ မဖြစ်ဘူး" ပီယာက ခပ်မြန်မြန်ပြောလိုက်သည်။

"ကဲ ကိစ္စရှိရင်တော့လဲ ပြန်ရမှာပလေ၊ ဟုတ်တာ ပေါ့၊ က်က် သွားတော့" မြို့စားကြီး ရော့စတော့ဖ်သည် ပီယာကို နှုတ်ဆက်ပြီးနောက် ထွက်သွားလေသည်။

"ဘာဖြစ်လို့ အစောကြီး ပြန်တာလဲ အစ်ကို၊ မျက်နှာလဲ မကောင်းပါလား၊ ဘာဖြစ်လို့လဲ" နာတာရှာက ပီယာ၏မျက်လုံးများကို ရဲရဲကြည့်၍ မေးလိုက်၏။

"ဘာမှမဖြစ်ဘူး၊ မင်းကို ချစ်လို့၊ မင်းကိုချစ်လို့၊ - သိရဲ့လား" ပီယာသည် ဤသို့ ပြောချလိုက်ချင်၏။ သို့ ရာတွင် ပါးစပ်က ထွက်မလာ။ မျက်နှာတွေ ထူပူကာ မျက်ရည်တွေသာ လည်လာသည်။ ထို့ကြောင့် မျက်လွှာကို ချလိုက်သည်။

"အစ်ကို ဒီကို ခဏ ခဏမလာတာ ကောင်းလိမ့် မယ်ထင်တယ် နာတာရှာ၊ ဘာဖြစ်လို့လဲဆိုတော့ အို ဘာမှ မဖြစ်ပါဘူးလေ၊ အစ်ကို့မှာ ကိစ္စတွေရှိတယ် နာတာရှာ"

"အို ဘာဖြစ်လို့ ခဏခဏမလာရမှာလဲ အစ်ကို၊ ဘာဖြစ်လို့လဲ၊ နာတာကို ပြောပြပါလား အစ်ကို ဟင်" နာတာရှာသည် အလောသုံးဆယ်မေးလိုက်မိပြီးမှ ရပ် လိုက်သည်။

၎င်းတို့နှစ်ဦးသည် ရှက်ကြောက် စိတ်ပျက်သော အမူအရာများဖြင့် တစ်ယောက်ကိုတစ်ယောက် စိုက်ကြည့် နေမိကြသည်။ ပီယာသည် ပြုံးဖို့ကြိုးစား၏။ သို့ရာတွင် မပြုံးနိုင်။ ဤအချိန်တွင် ပြုံးသော ပီယာ၏အပြုံးသည် ရင်ထဲက ဝေဒနာကို ဖွင့်ပြသကဲ့သို့သာ ရှိပေလိမ့်မည်။ ပီယာသည် နာတာရှာ၏လက်ခုံကို နမ်းရှိုက်ပြီးနောက် ချာခနဲ လှည့်ထွက်လာခဲ့လေသည်။

ဤနေ့မှစ၍ မြို့စားကြီး ရော့စတော့ဖ်အိမ်သို့ မသွားတော့ဟုလည်း ဆုံးဖြတ်လိုက်လေသတည်း။

# အခန်း ၂၁

ဖခင်မြို့စားကြီးက စစ်ထဲသို့ မလိုက်ရဟု တင်းတင်းမာမာ ငြင်းပယ်လိုက်သည့် နောက်၌ ပီတာသည် မိမိခန်းဆောင် သို့ ပြန်လာကာ တံခါးကို အတွင်းမှ ပိတ်ထားလိုက်လျက် ရှုက်ကြီးတငင် ငိုနေမိလေသည်။ လက်ဖက်ရည်သောက်ဆင်းလာသည့်အခါ၌လည်း ပီတာသည် မျက်ရည်များဖြင့် စိုစွတ်လျက်ရှိသော မျက်နှာကို စူထားကာ မည်သူ့ကိုမျှ စကားမပြောဘဲ သုန်မှုန်လျက်ရှိ၏။ ပီတာ၏အခြေအနေ ကို ကြည့်၍ အားလုံးကလည်း မသိဟန်ဆောင်နေကြ၏။

နောက်တစ်နေ့၌ ဘုန်းတော်ကြီးသော ဘုရား သည် မော်စကိုမြို့သို့ ကြွချီတော်မူလာရာ မြို့စားကြီး ရော့စတော့ဗ်၏အိမ်မှ အစေတော်များသည် ဘုရင်မင်းမြတ် ကို သွားရောက်ဖူးမြော်ရန် ခွင့်တောင်းကြ၏။ ထိုနေ့ တစ်မနက်လုံး ပီတာသည် ဆံပင်ပြီးခြင်း၊ အဝတ်အစား လဲခြင်း၊ လည်စီးကို ပြင်ပတ်ခြင်း စသည်ဖြင့် လူကြီးတစ် ယောက်ကဲ့သို့ ဆင်ပြင်လျက်ရှိ၏။ မှန်ထဲသို့ ကြည့်၍ မျက်မှောင်ကုတ်ချည်၊ နေဟန်ပြုချည်၊ ပခုံးတွန့်ပြချည် ဟန်ထုတ်လျက်ရှိပြီး နောက် အချိန်နီးသည်နှင့်တစ်ပြိုင်နက် ဦးထုပ်ကို ကောက်ကာ နောက်ဖေးမလွယ် တံခါးမှ တိတ် တဆိတ် ထွက်လာခဲ့လေသည်။ ပီတာ၏စိတ်ကူးမှာ ဘုရင်မင်းမြတ် စံမြန်းလျက်ရှိသည့် နေရာသို့ အရောက် သွားမည်။ ထို့နောက် ဘုရင်မင်းမြတ် နောက်တော်ပါးမှ လိုက်ပါလာသည့် လူပျိုတော်သားများ (ပီတာ၏စိတ်ထဲ၌ ဘုရင်မင်းမြတ်အနီးတွင် လူပျိုတော်သားများ အမြဲရှိသည် ဟု ထင်နေသည်။) ထံ ချဉ်းကပ်ကာ မိမိသည် မြို့စားကြီး ရော့စတော့ဗ်၏သားဖြစ်ကြောင်း၊ အသက်ပငယ်သော် လည်း နိုင်ငံတော်၏အကျိုးကို သယ်ပိုးထမ်းရွက်လို ကြောင်း၊ အသက်ငယ်ခြင်းသည် ဘုရင်မင်းမြတ်၏အမှု တော်ကို ထမ်းခြင်း၌ အတားအဆီး မဖြစ်နိုင်ကြောင်း စသည်ဖြင့် ရှင်းလင်းပြောပြမည်ဟူ၍ ဖြစ်၏။ အဝတ်အစား လဲလျက်ရှိ

စဉ်၌ ပီတာသည် လူပျိုတော်သားများအား ပြောမည့်စကားများကို စိတ်ကူးလျက်ရှိလေသည်။

ပီတာ၏စိတ်၌ အသက်ငယ်ခြင်းကြောင့်ပင် ဘုရင် မင်းမြတ်၏ ရှေ့တော်မှောက်တွင် ဝင်ရောက် ခစားခွင့် ရလိမ့်မည်ဟု တွေးထင်လျက်ရှိ၏။ (ဘုရင်မင်းမြတ်၏ ရှေ့တော်မှောက်၌ မိမိကဲ့သို့ အသက်ငယ်ရွယ်သူတစ်ဦး ခစားနေသည်ကို တွေ့ရလျှင် မည်မျှ အံ့အားသင့်နေကြ မည်နည်းဟူ၍ပင် စိတ်ကူးယဉ်လျက်ရှိသည်။) သို့သော် လည်း လည်စီးစည်းထားပုံ၊ ဆံပင်ဖြီးထားပုံနှင့် လမ်း လျှောက်ပုံစသည့် ပီတာ၏အမူအရာမှာ ၎င်းအား လူလား မြောက်ပြီး သူတစ်ယောက်အဖြစ်အထင်ခံလိုဟန်ကို ဖော်ပြလျက်ရှိလေသည်။

သို့ဖြင့် ပီတာသည် ကရင်မလင် နန်းမြို့ရိုးဆီသို့ လျှောက်လာခဲ့သည်၌ တဖြည်းဖြည်း လူစုလူဝေး ထူထပ် လာခြင်းကို တွေ့ရ၏။ လူအုပ်ထဲသို့ ရောက်လာသည်နှင့် တစ်ပြိုင်နက် လူကြီးတစ်ယောက် ဟန်ဖြင့် လမ်းလျှောက် ရမည့်အရေး၊ လူကြီးတစ်ယောက် “ဂိုက်” ဖမ်းရမည့်အရေး တို့ကို စဉ်းစားမနေနိုင်တော့ဘဲ နန်းမြို့ရိုးတစ်လျှောက်၌ ကြိတ်ကြိတ်တိုးလျက်ရှိသော လူအုပ်ကြီးထဲတွင် ညှပ်ပါ မသွားအောင် မနည်းကြီး တင်းခံထားရကာ အံကြိတ်လျက် တံတောင်နှစ်ဖက်ကိုကား၍ တိုးယူရသည်။ “ဘုရားသုံးဆူ” မြို့တံခါးမုခ်ဝထဲသို့ ရောက်သောအခါ၌ကား ရဲရဲ တောက်သော ဇာတိမာန် ဇာတိသွေးဖြင့် လာရောက်သည့် ပီတာကို သတိထားမိကြဟန်မတူသော လူအုပ်ကြီးက အတင်းတိုးဝှေ့ခြင်းကြောင့် ပီတာသည် မြို့တံခါးမုခ်ဦး အုတ်ရိုးတွင် ညပ်လျက်ရှိသဖြင့် မည်မျှပင် စိတ်အားထက်သန်စေကာမူ ဆက်၍ မတိုးနိုင်တော့ဘဲ ရပ်နေရလေ သည်။ ထိုအခိုက်၌ မြို့တံခါး မုခ်ဦးထဲသို့ ကရထားများ ဖြတ်သန်းမောင်းလာသံကို ကြားရ၏။ ပီတာ၏အနီး၌ ကျေးတောသူမကြီးတစ်ဦး၊ သူငယ်တော်တစ်ဦး၊ သူကြွယ် နှစ်ဦး၊ စစ်သားတစ်ဦးတို့ ရပ်လျက်ရှိကြ၏။ ပီတာသည်က ရထားများ မြို့တံခါးမုခ်ဦးမှ

ထွက်သွားသည်အထိ မစောင့် နိုင်တော့ဘဲ လူကြားထဲမှ အတင်းတိုးဝှေ့၍ ထွက်လာခဲ့ သည်။ ပထမဆုံး ရှေ့တွင် ရပ်လျက်ရှိသော ကျေးတောသူမ ကြီးကို တိုး၍ ထွက်လိုက်သည်။ ကျေးတောသူမကြီးသည် စိတ်ဆိုးလျက် နောက်သို့ လှည့်ကြည့်လိုက်၏။

"ဟဲ့ ဘာဖြစ်လို့ သည်ကလောက် တိုးနေရတာ လဲ သူငယ်ရဲ့ ၊ အရှေ့မှာ တိုးမရလို့ ရပ်နေရတာ မမြင် ဘူးလား၊ မတိုးပါနဲ့"

"တိုးသာတိုး" အနီးရှိ သူငယ်တော်တစ်ဦးက ပြော၍ အတင်းတိုးလိုက်သည်။ သူငယ်တော်က ဆောင့်၍ တိုးလိုက်သည်တွင် ပီတာသည် ညစ်ပတ်လှသော မြို့ရိုး တံခါးကြားထဲသို့ ရောက်သွားပြန်သည်။

ပီတာသည် ချွေးသီးချွေးပေါက်တို့ ယိုစီးလျက် ရှိသော မျက်နှာကို လက်ဖြင့် သုတ်လိုက်၏။ ထို့နောက် လူကြီးဟန်ဖမ်းကာ အကျထောင်လာခဲ့သော်လည်း ယခု အချိန်တွင် ချွေးတို့ဖြင့် စိုရွှဲကာ ပုံပျက်ပန်းပျက်ဖြစ်နေသော လည်ထောင်ကို အပေါ်သို့ ဆွဲတင်လိုက်၏။

ဤပုံပန်း ဤအဝတ်အစားဖြင့်ကား မည်သည့် နည်းနှင့်မျှ ဘုရင်မင်းမြတ်၏ ရှေ့တော်မှောက်သို့ ခစား ခွင့်ရတော့မည် မဟုတ်ဟု တွေးမိကာ စိတ်ပျက်သွား၏။ သို့ရာတွင် ဤမျှ ကြိတ်ကြိတ်တိုးလျက်ရှိသော လူအုပ် ကြီးထဲ၌ တစ်နေရာသို့ ထွက်၍ အဝတ်အစားကို ပြင်ဆင် ရန်လည်း မဖြစ်နိုင်ချေ။ ထိုအခိုက် မြို့တံခါးမုခ်ဦးအောက် တွင် ဖြတ်သန်းမောင်းနှင်သွားသည့် ကရထားတစ်စင်း ပေါ်၌ ဖခင်မြို့စား၏ ရောင်းရင်းတစ်ဦးဖြစ်သော ဗိုလ်ချုပ် ကြီးတစ်ဦးကို ပီတာ မြင်လိုက်သဖြင့် ၎င်းထံ အကူအညီ တောင်းကာ နန်းမြို့ရိုးထဲအရောက် သူ့ကရထားပေါ် လိုက်သွားရလေမည်လောဟု အကြံရလာသည်။ သို့ရာတွင် သူတစ်ပါးထံ အကူအညီတောင်းခြင်းမှာ ယောကျ်ားပီသ ခြင်းမရှိဟု ယူဆမိပြန်သဖြင့် ထိုအကြံ

ကို ပယ်ဖျက်လိုက် သည်။ ကရထားများအားလုံး နန်းမြို့ရိုးထဲသို့ ရောက်သွား သည့်အခါ "ဘုရားသုံးဆူ" တံခါးမုခ်ဦးအောက်၌ ပြုံတိုး လျက်ရှိသော လူအုပ်ကြီး သည် ရှေ့သို့ ရွေ့ လာခဲ့သည်တွင် ပီတာမှာ ခြေထောက်နှင့် မြေကြီး ထိလိုက် သည်ဟူ၍ပင် မထင်လိုက်ရဘဲ ညပ်ပါလာခဲ့ကာ ကရင်မလင်နန်းရင်ပြင် ထဲသို့ ရောက်လာခဲ့လေသည်။ ပီတာရောက်သွားသောအခါ ၌ ကရင်မလင် နန်းရင်ပြင် ကြီးတစ်ခုလုံးမှာ ခြေချစရာ မရှိလောက်အောင် လူတွေ တင်းကြမ်းပြည့်လျက်ရှိ လေပြီ။ ရင်ပြင်ထဲမှာသာမက ပစ္စင်၊ ပြအိုး၊ ရင်တား၊ ပြာသာဒ်၊ သူရဲခို စသည် တို့၌လည်း လူတွေ အခိုင်လိုက် အပြွတ်လိုက် သီးနေသကဲ့သို့ ပြည့်လျက်ရှိသည်။ ကရင်မလင်နန်းရင်ပြင် ထဲသို့ ရောက်သည်နှင့်တစ်ပြိုင်နက် ခေါင်းလောင်းသံများ၊ အုတ်အုတ်ကျက်ကျက် အော်ဟစ်သံများသည် နန်းမြို့ရိုး ထဲတွင် မြည်ဟည်း လျက် ရှိလေသည်။

လူအုပ်ကြီးသည် ခေတ္တမျှ ရှိသွားပြီးနောက် အား လုံး ဦးထုပ်များကို ချွတ် လိုက်ကြကာ တစ်နေရာသို့ စု ပြုသွားလျက်ရှိကြ၏။ လူအုပ်ကြီးက ဖိ၍တိုးလိုက် သဖြင့် ပီတာသည် အသက်ကိုပင် မရှူနိုင်အောင် ဖြစ်နေသည်။ "ဘုန်းတော် ကြီးသောဘုရား သက်တော် ရာကျော်ရှည်ပါ စေ" ဟူသော ကောင်းချီးသြဘာ သံကြီးသည် တစ်ခဲနက် ထွက်ပေါ်လာ၏။ ပီတာသည် ရှေ့ကလူတွေကြားထဲတိုး ကာ ခြေဖျားထောက်၍ ကြည့်လိုက်သည်။ သို့ရာတွင် လူအုပ်ကြီးမှအပ ဘာမျှ မ မြင်ရချေ။

လူအားလုံး၏ မျက်နှာများသည် ရွှင်မြူးထက်သန် သော အသွင်သဏ္ဌာန်ကို ဖော်ပြလျက်ရှိကြ၏။ ပီတာ့ အနီး ရပ်လျက်ရှိသည့် သူကြွယ်တစ်ဦး၏ဇနီးမှာ ကြည်နူး L လွန်းသဖြင့် မျက်ရည်တွေ စီးကျကာ ငိုရှိုက်လျက်ရှိလေ သည်။

“ဘုန်းတော်ကြီးသော ဘုရား၊ ဘုန်းတော်ကြီးသော ဘုရား”ဟု တတွတ်တွတ် ရွတ်ဆိုကာ မျက်ရည်များကို သုတ်လျက်ရှိ၏။

“ဘုန်းတော်ကြီးသော ဘုရား၊ သက်တော်ရာကျော် ရှည်ပါစေ”ဟူသော ကောင်းချီးဩဘာသံများကား အရပ် ရှစ်မျက်နှာမှ တစ်ခဲနက် ထွက်ပေါ်လျက် ရှိ၏။

လူထုပရိသတ်ကြီးသည် ခေတ္တမျှ ငြိမ်သက်လျက် ရှိပြီးနောက် ရှေ့ဘက်သို့ ပြုံဆင်းသွားပြန်သည်။

ပီတာသည် အလွန်အမင်း ဝမ်းမြောက်လျက်ရှိရာ က “ဘုန်းတော်ကြီးသော ဘုရား၊ သက်တော်ရာကျော် ရှည်ပါစေ”ဟု သွားကိုစေ့၍ အားရပါးရ အော်ကာ ကြောက်စရာကောင်းလောက်အောင် ပြူးကြောင်သော မျက်လုံးဖြင့် ရှေ့သို့ကြည့်လျက် အတင်းဖိ၍ တိုးလေရာ ထိုအချိန်က ပီတာ၏သဏ္ဍာန်မှာ အရေးကြုံလာက မိမိ၏  ကိုယ်ကိုလည်းကောင်း၊ အခြားသူများကို လည်းကောင်း သတ်ဖြတ်ရန် ဝန်လေးခြင်းမရှိသည့် အသွင်သဏ္ဍာန်ကို ဆောင်လျက်ရှိလေသည်။ ပီတာတွင် မက လူအားလုံးမှာပင် ကြောက်စရာကောင်းသော မျက်နှာထား များဖြင့် ရှေ့သို့ အတင်း ဖိတိုးလျက်ရှိကာ “ဘုန်းတော်ကြီးသော ဘုရား သက်တော်ရာကျော် ရှည်ပါစေ” ဟူသော ဩဘာသံများကို တစ်ခဲနက် ဟစ်အော်လျက်ရှိကြ၏။

“ငါတော့ ဘုရင်မင်းမြတ် ရှေ့တော်ကို ဝင်ခစား ပြီး တင်လျှောက်သွင်းနိုင်တော့မှာ မဟုတ်တော့ဘူး”ဟု ပီတာ တွေးတောမိ၏။ သို့တိုင်အောင် ပီတာသည် မလျှော့ဘဲ ရှေ့သို့ တိုးမြဲတိုးလျက်ရှိလေသည်။ ပီတာသည် မိမိရှေ့ ခပ်လှမ်းလှမ်း၌ ကော်ဇောနီကြီး ခင်းထားသော မင်းလမ်းမ ကို ရှေ့က ပရိသတ်များကြားဆီမှ ရိပ်ခနဲ လှမ်းမြင်လိုက် ရသည်။ ထိုအတောအတွင်း ရှေ့က လူအုပ်ကြီးသည် နောက်ဘက်သို့ ပြုံဆင်းလာလေသည်။ ရှေ့တော်ပြေး ရဲ သားများသည် မင်းလမ်း

မအနီးသို့ ကပ်လာသူများကို မောင်းထုတ်ပစ်လျက် ရှိခြင်းကြောင့် နောက်သို့ ပြို ဆင်း လာခြင်းပေတည်း။ ဘုန်းတော်ကြီးသော ဘုရားသည် နန်းမဆောင်ကြီးမှ ထွက်လာခဲ့၍ ရာဇဘိသေက ခံတော် မူရာ ဘုရားရှိခိုးကျောင်းဘက်သို့ ကြွလာ လေသည်။ ထို အခိုက် ပီတာသည် မိမိ၏နံဘေးကို တစ်စုံတစ်ယောက်က ပြင်းထန်စွာ ထိုးနှက်လိုက်သကဲ့သို့ ခံစားလိုက်ရ၏။ မိမိ ကိုယ်ကို တစ်ဖက်တစ်ချက်ရှိ လူအုပ်ကြီးက ဖျစ်ညှစ်ဆုပ် ကိုင်လိုက်သည်ဟုလည်း ထင် လိုက်ရ၏။ ထို့နောက်၌ကား ပီတာသည် မျက်လုံးတွေ ပြာသွားပြီးနောက် သတိလစ်သွား လေသည်။ သတိပြန်ရလာသည့်အခါ၌ ဆံပင်ဖြူဖြူ ဘုန်းတော် ကြီး ဝတ်ရုံကို ခြုံထားသည့် သာသနာ့ဝန်ထမ်း တစ်ဦးက သူ့အား လက်တစ်ဖက် ဖြင့် တွဲ၍ ပွေ့ထားပြီး အခြားလက်တစ်ဖက်ဖြင့် ဖိ၍ တိုးလျက်ရှိသော လူအုပ် ကြီး အား တွန်းလျက်ရှိခြင်းကို တွေ့ရ၏။

“လူအုပ်ကြားထဲမှာ ညပ်သွားတယ်ကွယ့်၊ လာ လာ ဖြည်းဖြည်းလိုက်ခဲ့၊ လူ အုပ်ကြီးထဲမှာ အနင်းခံနေရ လိမ့်မယ်”

ဘုရင်မင်းမြတ်မှာ ရာဇဘိသေကခံရာ ဘုရားရှိခိုး ကျောင်းထဲသို့ ရောက် သွားပြီ ဖြစ်လေသည်။ ထိုအခါ၌ လူအုပ်ကြီးမှာ တစ်နေရာတည်းတွင် ပြုံ၍ မနေ တော့ဘဲ ပြန့်ကျဲသွားပြီဖြစ်၍ အနည်းငယ် ရှင်းသွားသလိုလိုရှိ၏။ သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်သည် ဖြူဖပ်ဖြူရော်ဖြစ်ကာ အသက်မရှူနိုင်ဖြစ်နေသော ပီတာကို ရှေးဟောင်း ကြေး အမြောက်ကြီးထားရာ ကွက်လပ်ကလေးများသို့ ခေါ် လာ ခဲ့၏။ လူများသည် ပီတာကိုကြည့်၍ သနားကရုဏာသက် လျက် အနီးသို့ ဝိုင်းအုံလာကြပြန်သည်။ အနီးဆုံးရောက် နေသူများက ပီတာ၏ အကျႌကြယ်သီး များကို ဖြုတ်ပေးကာ ရှေးဟောင်း ကြေးအမြောက်ကြီး တင်ထားသည့်စင်ပေါ်သို့

တင်ပေးလိုက်ပြီး ပီတာအား နင်းသွားရပါမည်လောဟု ကျိန်ဆဲလျက် ရှိကြလေသည်။

“ဒီလိုနင်းတာ သေတတ်တယ်လို့ မသိကြဘူး ထင်တယ်၊ ကိုယ်ချင်းမစာဗျာ၊ လုပ်မှလုပ်ရက်ကြပလေ၊ ကြည့်စမ်းပါဦး၊ သူငယ်လေး သွေးမရှိတော့သလို ဖြူဖပ်ဖြူရော်ဖြစ်နေပြီ” တစ်ယောက်တစ်ပေါက် ပီတာကို ကြည့်၍ ပြောနေကြသည်။

ခဏကြာတော့မှ ပီတာသည် နေသာထိုင်သာ ရှိ လာလေသည်။ မျက်နှာတွင် သွေးရောင်လျှမ်းစ ပြုလာ သည်။ နံကြားထဲက အောင့်သော ဝေဒနာသည်လည်း ပျောက်သွား၏။ သို့ရာတွင် ပီတာမှာ ခေတ္တမျှ သတိမေ့ လိုက်ခြင်းကြောင့် အမြောက်စင်တွင် နေရာကောင်းရရှိခဲ့ လေပြီ။ အမြောက်စင်ပေါ်မှ ကြည့်လျှင် ဘုရင်မင်းမြတ် ပြန်၍ ထွက်လာတော်မူပုံကို မြင်ရလိမ့်မည်ဟု ထင်ရ၏။ ပီတာသည် ဘုရင်မင်းမြတ်ထံ တင်လွှာသွင်းရန် အကြံ ကို လက်လျှော့လိုက်လေပြီ။ ကိစ္စမရှိပါ။ ဘုရင်မင်းမြတ်ကို ဖူးမြော်လိုက်ရသည်ဆိုလျှင်ပင် ပီတာ ကျေနပ်ပါပြီ။

ရာဇဘိသေကခံရာဘုရားရှိခိုးကျောင်းထဲ၌ ဝတ်ပြု လျက်ရှိစဉ် (ဘုရင်မင်းမြတ် ကြွချီတော်မူလာခြင်း အထိမ်း အမှတ်နှင့် တူရကီပြည်နှင့် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆို ခြင်းအတွက် ကျေးဇူးတော်အောက်မေ့ခြင်း အထိမ်းအမှတ် အဖြစ် ပူးတွဲ၍ ဝတ်ပြုဆုတောင်းပွဲ ကျင်းပခြင်းဖြစ်သည်။) အပြင်ဘက်၌ လူအုပ်ကြီးသည် စောင့်လျက်ရှိ၏။ ယမကာ ရောင်းသူ၊ မုန့်ရောင်းသူ၊ ဘိန်းစေ့သကြားလုံး (ပီတာ အကြိုက်ဆုံး သရေစာဖြစ်သည်။) ရောင်းသူတို့၏ အော် ဟစ်သံများ၊ တစ်ယောက်တစ်ပေါက် စကားပြောဆိုသံ များကို အုတ်အုတ်ကျက်ကျက် ကြားနေရ၏။ သူကြွယ် တစ်ဦး၏ မိန်းမသည် မိမိခြံလာသော ပဝါကိုပြကာ ထို ပါမည်မျှပေးရကြောင်းကို ပြောဆိုလျက်ရှိ၏။ အခြား တစ်ယောက်သည် ပိုးထည်များ ဈေးကြီးလျက်ရှိခြင်းကို ပြောလျက်ရှိ၏။ ပီတာအား

တွဲခေါ်လာသည့် သာသနာ့ ဝန်ထမ်းပုဂ္ဂိုလ်သည် ဘုရင်မင်းမြတ်၏ ကျေးဇူးတော် ဝတ်ပြုဆုတောင်း အခမ်းအနား၌ ဂိုဏ်းအုပ် ဘုန်းတော် ကြီးနှင့်အတူ ဆုတောင်း ဒေသနာတော်များကို ရွတ်ဆို လျက်ရှိသော ဘုန်းတော်ကြီးများအကြောင်းကို ပြောဆို လျက် ရှိသည်။ သာသနာ့ဝန်ထမ်း ပုဂ္ဂိုလ်သည် "သဗ္ဗ" ဆိုသော ပီတာ နားမလည်သည့် စကားတစ်လုံးကို မကြာ ခဏာ ပြောဆိုလျက်ရှိ၏။ မြို့ကြီးသား လူငယ်နှစ်ယောက် သည် သစ်သီး တစ်ယောက်တစ်လုံးစီ ကိုက်စားနေသော တောသူမကလေး နှစ်ဦးကို နောက်ပြောင်လျက်ရှိ၏။ ဤစကားများ အထူးသဖြင့် မိန်းကလေးများအား "ရှိသဲ့သဲ့" ပြောသော စကားများသည် ပီတာလို လူပျိုပေါက် ကလေး တစ်ယောက်အဖို့ ကြည်နူးဖွယ်ဖြစ်သော်လည်း ပီတာသည် ယခုအချိန်၌ မည်သည့်အရာကိုမျှ စိတ်မဝင်စားတော့ချေ။ အမြောက်စင်ပေါ်တွင် ထိုင်လျက်က ဘုရင်မင်းမြတ်အား ဖူးမြင်လိုသော ဆန္ဒ၊ ဘုရင်မင်းမြတ်အား ချစ်ကြည်လေးစား သော စိတ်တို့သာ ပီတာကို ဖုံးလွှမ်းလျက်ရှိလေသည်။

ထိုအခိုက် ကျုံးထိပ်ဆီမှ အမြောက်တစ်ချက် ပစ် ဖောက်သံကို ကြားလိုက် ရ၏။ ထိုအမြောက်သံကား တူရကီနှင့် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုပြီးခြင်း အထိမ်း အမှတ်ပေတည်း။ လူအုပ်ကြီးသည် အမြောက်သံကြားရာ ကျုံးထိပ်ဘက်သို့ ပြို ဆင်းသွားပြန်သည်။ ပီတာသည် ထိုလူအုပ်ကြီး ပြုဆင်းရာသို့ လိုက်သွားမည်ပြု သေး၏။ သို့သော် ပီတာကို တွဲခေါ်လာသည့် သာသနာ့ဝန်ထမ်း ပုဂ္ဂိုလ်က တား ထားလိုက်သည်။ ရာဇဘိသေကခံရာ ဘုရားရှိခိုးကျောင်းထဲမှ ရွှေနန်းတော် မင်းမှုထမ်းများ၊ ဗိုလ်ချုပ်ကြီးများ၊ လူပျိုတော်သားများ၊ ရှေ့တော်ပြေးများ ပြေး ထွက်လာသည့်အချိန်ထိ အမြောက်သံများသည် မြည် ဟည်းလျက်ရှိကြ၏။ ဤ တွင် အမြောက်ပစ်ရာသို့ သွား ကြည့်နေသော လူအုပ်ကြီးသည် ဘုရားရှိခိုး ကျောင်းဘက် သို့ ပြုဆင်းလာပြန်သည်။ ခဏကြာလျှင် စစ်ဝတ်စုံနှင့် ရွှေစလွယ် များ ဝတ်ဆင်ထားသည့် ပုဂ္ဂိုလ်လေးဦး ဘုရား ရှိခိုးကျောင်းထဲမှ ထွက်လာကြကာ

မရှေးမနှောင်းမှာပင် "ဘုန်းတော်ကြီးသောဘုရား သက်တော်ရာကျော်ရှည်ပါ စေ"ဟူသော အသံများသည် တစ်ခဲနက် ထွက်ပေါ်လာကြ ပြန်သည်။

"ဘုန်းတော်ကြီးသော ဘုရားက ဘယ်ဟာလဲ။ ဘယ်နားက ဟာလဲ" ပီတာသည် တုန်ယင်သောအသံဖြင့် အနားက လူများကို မေးကြည့်၏။ သို့ရာတွင် အားလုံး စိတ်အားတက်ကြွလျက် ရှိကြသဖြင့် မည်သူကမျှ ပြန် ဖြေမရကြချေ။ ပီတာသည် ဝမ်းသာခြင်းကြောင့် မျက်ရည်များ ဖုံးလွှမ်းလျက်ရှိသော မျက်လုံးများဖြင့် ထို ပုဂ္ဂိုလ်လေးဦးကို လှမ်းကြည့်လိုက်ကာ "ဘုန်းတော်ကြီး သော ဘုရား သက်တော်ရာကျော်ရှည်ပါစေ"ဟု အော် ဟစ်လိုက်သည်။ နက်ဖြန်တွင် တပ်မတော်ထဲသို့ ဝင်ဖြစ် အောင် ဝင်တော့မည်ဟူ၍လည်း ပိုင်းဖြတ်လိုက်လေ သည်။ လူထုပရိသတ်ကြီးသည် ရွှေနန်းတော်သို့တိုင် အောင် နောက်မှ လိုက်လာကြကာ တဖြည်းဖြည်း လူစု ကွဲသွားကြသည်။ ထိုအချိန်မှာ ညနေစောင်းလေပြီ။ ပီယာ မှာ ယခုအချိန်ထိ ဘာမျှမစားရသေးချေ။ သူ့တစ်ကိုယ် လုံးမှာလည်း ချွေးတွေ စိုရွှဲလျက်ရှိ၏။ သို့တိုင်အောင် ပီတာသည် ကျန်နေသေးသော လူထုပရိသတ်ကြီး (ကွဲစ ပြုပြီဖြစ်သော်လည်း အားကောင်းလျက် ရှိနေသေးသည်) နှင့်အတူ ရွှေနန်းတော် ဝင်းပြင်ဘက်တွင် ရပ်လျက် ဘုရင်မင်းမြတ်၏ ညစာစားပွဲကြီးကို လှမ်း မျှော်ကြည့် လျက် ရှိလေသည်။ တကယ်တွင်ကား ဘာကိုမျှ မြင်ရ သည် မဟုတ်ချေ။ ဘုရင်မင်းမြတ်နှင့်အတူ ညစာသုံးဆောင် ရန် ဖိတ်ကြားခြင်းခံရသည့် မှူးကြီးမတ်ကြီးများသည် ကရထားကြီးများဖြင့် ရွှေနန်းတော်ဝင်းထဲသို့ ဝင်ရောက် သွားကြ၏။ညစာပွဲတော်အုပ်ကိုပိုက်လျက်ရှိသောအဆောင် ကိုင်များကို ပြတင်းဝမှာ ရိပ်ခနဲ ရိပ်ခနဲ မြင်လိုက်ရ၏။ ပီတာသည် ၎င်းတို့ကို အားကျလျက်ရှိလေသည်။

ဘုရင်မင်းမြတ်ပွဲတော် တည်ခင်းလျက်ရှိစဉ် အမတ် ချုပ် ဗာလုယက်သည် ရွှေနန်းတော် လေသာပြတင်းမှ မျှော်ကြည့်ပြီးနောက်

”မှန်လှပါ၊ ဘုန်းတော်ကြီးသော ဘုရားကို ဖူးမြော် ရန်အတွက် လူထု ပရိသတ်ကြီး စောင့်ဆိုင်းလျက် ရှိသေး ကြောင်းပါ” ဟု လျှောက်တင်လျက်ရှိ၏။

ဘုရင်မင်းမြတ်သည် ပွဲတော်တည်ပြီးသည်နှင့် မုန့်ကျွတ်ပြားတစ်ချပ်ကို ဝါး ရင်း ရွှေနန်းတော် လေသာ ဆောင်ဘက်သို့ ထွက်တော်မူလာသည်။ လူအုပ်ကြီး သည် လေသာဆောင်ဘက်သို့ စုပြုံလာကြပြန်သည်။

လူအုပ်ကြီးသည် “ဘုန်းတော်ကြီးသော ဘုရား သက်တော်ရှည်ပါစေ”ဟု ကြွေးကြော်ပြန်သည်။ မိန်းမများ နှင့် စိတ်အားငယ်တတ်သူ ယောကျ်ားအချို့ကား (ထိုအထဲ ၌ ပီတာလည်း ပါသည်။) ဝမ်းသာလွန်းသဖြင့် ငိုကြွေး ကြ၏။

ဘုရင်မင်းမြတ်၏ လက်ထဲတွင် ကိုင်ထားသော မုန့်ကြွပ်တစ်ချပ်သည် ပဲ့၍ အောက်သို့ကျလာ၏။ ရထား သမားတစ်ယောက်သည် ရှေ့သို့ပြေးကာ မုန့်ပွဲကို ကောက် ယူလိုက်သည်။ အချို့လူများသည် ရထားသမားလက်ထဲမှ မုန့်ကြွပ်ပုံကို လိုက်၍ လုကြလေ၏။ ဤအခြင်းအရာကို မြင်သည်၌ ဘုရင်မင်းမြတ်သည် နောက်ထပ် ရောက်လာ သော မုန့်ကြွပ်ပန်းကန်ထဲမှ မုန့်ကြွပ်ပြားများကို အောက် သို့ ကြဲချလိုက်သည်။ ပီတာ၏မျက်လုံးများကား နီရဲလျက် ရှိလေပြီ။ ပီတာသည် လူအုပ်ကြီးကြားထဲတွင် ညပ်မည်ကို ကြောက်သော်လည်း မချုပ်တည်းနိုင်တော့ ဘဲ မုန့်ကြွပ်ပြား များကို လိုက်၍ ကောက်လျက်ရှိလေသည်။ မည်သည့် အကြောင်းကြောင့်ဟု မသိသော်လည်း ဘုရင်မင်းမြတ်၏ လက်တော်ဖြင့် ချပေး သော မုန့်ကြွပ်ပြားများကို ရဖို့ အရေးကြီးသည်ဟု ပီတာ ယူဆသည်။ ထို့ကြောင့် ပီတာ သည် လူအုပ်ထဲတွင် ညပ်မည့်အရေးကိုတွေး၍ ကြောက် မနေနိုင်တော့ဘဲ ရှေ့သို့ လွှားခနဲခုန်ကာ မုန့်ကြွပ်ပြား တစ်ချပ်ကို ကုန်းကောက်လျက်ရှိသော မိန်းမကြီးတစ် ယောက်အား ကိုယ်စောင်းပစ်တိုက်လိုက်သည်။ မိန်းမကြီး သည် ပက်လက် လဲကျသွားရာက အရှုံးမပေးသေးဘဲ မုန့်ကြွပ်ပြားတစ်ချပ်ကို လှမ်း

ကောက်လျက်ရှိ၏။ ပီတာ သည် မိန်းမကြီး၏လက်ကို ဒူးဖြင့် ခတ်ချလိုက်ပြီး နောက် မုန့်ကြွပ်ပြားကို ဆတ်ခနဲကောက်ယူလိုက်၍ "ဘုန်းတော် ကြီးသော ဘုရား သက်တော်ရာကျော်ရှည်ပါစေ"ဟု အော်ပြန်သည်။ ပီတာ့အသံမှာလည်း ကွဲအက်လျက် ရှိလေပြီ။

ဘုရင်မင်းမြတ်သည် လေသာဆောင်မှ ပြန်ကြွသွား လေသည်။ အတန်ကြာ တော့မှ လူထုပရိသတ်ကြီးသည် တဖြည်းဖြည်း ကွဲစပြုလေတော့သည်။

"ကဲ မပြောဘူးလား၊ စောင့်ပါဦးလို့၊ ခုမုန့်ကြွပ်ပြား ရခဲ့ပြီ မဟုတ်လား၊ ဘုန်းတော်ကြီးသော ဘုရားလက်တော် နဲ့ ပစ်ပေးတဲ့ မုန့်ကြွပ်ပြား ရပြီမဟုတ်လား" တစ်ယောက် တစ်ပေါက် ဝမ်းသာအားရ ပြောဆိုလာသံများကို ကြားရ ၏။

ပီတာသည် ထိုနေ့တွင် အပျော်ကြီး ပျော်မိသည်။ နေ့ထူးနေ့မြတ်ကြီး ကုန်ဆုံးလေပြီဟု တွေးမိကာ အိမ်ကို မပြန်ချင်လောက်အောင် ဖြစ်လျက်ရှိ၏။ ပီတာသည် ကရင်မလင် နန်းမြို့ရိုးမှ အိမ်သို့ တိုက်ရိုက်မပြန်သေးဘဲ ၎င်း၏သူငယ်ချင်း အိုဘိုလင်စကို အိမ်သို့ လာခဲ့လေသည်။ အိုဘိုလင်စကီမှာ အသက် ဆယ့်ငါးနှစ်မျှသာရှိ၍ ပီတာ ကဲ့သို့ပင် တပ်မတော်ထဲသို့ ဝင်ရန် လျှောက်ထားသူဖြစ်၏။ အိမ်သို့ ပြန်ရောက်သောအခါ၌ မိမိအား တပ်မတော်ထဲသို့ ဝင်ခွင့်မပြုပါက ထွက်ပြေးမည်ဖြစ်ကြောင်းဖြင့် ပြတ်သား စွာ ထုတ်ဖော်ပြောဆိုလိုက်လေသည်။ ဖခင်မြို့စားကြီး ရော့စတော့ဗ်သည် (ပီတာ၏ကိစ္စကို လုံးလုံးလျားလျား သဘောမတူသေးသော်လည်း) နောက်တစ်နေ့၌ကား ပီတာ တပ်မတော်ထဲသို့ ဝင်လျှင် အန္တရာယ်ကင်းသည့်နေရာ၌' အမှုထမ်းနိုင်ရန်အတွက် မည်သို့ စီစဉ်ဆောင်ရွက်ရမည် ကို သွားရောက် စုံစမ်းခြင်းပြုရလေသတည်း။

## အခန်း ၂၂

နောက်နှစ်ရက်အကြာဖြစ်သော ဇူလိုင် ၁၅ ရက်နေ့၌ က ရထားပေါင်းများ စွာတို့သည် စလိုဗိုဒါ နန်းတော်ရှေ့တွင် ရပ်လျက်ရှိကြ၏။

ရွှေနန်းတော် ခန်းမဆောင်ကြီး၌ကား မှူးကြီး ( မတ်ရာ ဗိုလ်ပါပရိသတ်တို့ ဖြင့် ပြည့်ကျပ်လျက်ရှိလေ သည်။ ပထမခန်းမဆောင်၌ အဆောင်အယောင်များ၊ ရွှေ ( စလွယ်များ ဝတ်ဆင်ထားသော မှူးကြီးမတ်ကြီးများရှိကြ၍ ဒုတိယခန်း ဆောင်၌ အပြာရောင်ဝတ်စုံများကို ဝတ်၍ ဆုတံဆိပ်များ တပ်ဆင်ထားကြသည့် မုတ်ဆိတ်မွေး၊ နှုတ် ခမ်းမွေးပါးပါးနှင့် သူဌေးသူကြွယ်များ ရှိကြ၏။ မှူးကြီး ( မတ် ကြီးများ၏ ခန်းမဆောင်ထဲမှ လှုပ်ရှားသံများ၊ စကား ပြောသံများသည် တ သောသော ဆူညံလျက်ရှိ၏။ မှူးကြီး ( မတ်ရာ အစုများကို အမှူးပြုရသော အမတ်ချုပ်ကြီးများ သည် ဘုန်းတော်ကြီးသော ဘုရား၏ ရုပ်ပုံတော်ချိတ်ဆွဲ ထား သည့် နံရံအနီးရှိ စားပွဲရှည်ကြီးမှ နောက်မှီမြင့်မြင့် နှင့် ထိုင်ဖုံကြီးများတွင် ထိုင် လျက်ရှိကြသော်လည်း မှူး မတ် အများအပြားမှာကား ခန်းဆောင်ထဲတွင် ထိုမှဤမှ လှည့်ပတ်သွားလာလျက် ရှိကြလေသည်။

ပီယာသည် ထိုမှူးမတ်များအားလုံးကို ကလပ်တွင် လည်းကောင်း၊ နေထိုင် ရာအိမ်များတွင်လည်းကောင်း နေ့ စဉ် တွေ့မြင်နေကျဖြစ်၏။ ထိုမှူးမတ်များ အားလုံးသည် အဆောင်အယောင် နန်းဝတ်နန်းစားကို ဝတ်ဆင်ထားကြ လေ သည်။ အချို့က ဘွားတော်ကက်သရင်း ဘုရင်မကြီး ရွှေလက်ထက်တော်က နန်း ဝတ်နန်းစားများကို ဝတ်ဆင် ထားကြလျက် အချို့က ခမည်းတော် ပေါလ်ဘုရင် မင်းမြတ် ၏ ရွှေလက်ထက်တော်က နန်းဝတ်နန်းစားများကို ဝတ် ဆင်ထားကြ၏။ အချို့ကလည်း ဘုန်းတော်ကြီးသော အလက်ဇန်းဒရား ဘုရင်မင်းမြတ်၏ ရွှေ လက်ထက်တော် နန်းတွင်းအဝတ်အစားများကို ဝတ်ဆင်ထားကြလျက် အချို့ကမူ မှူးမတ်ဝတ်စုံရိုးရိုးကို ဝတ်ဆင်ထားလျက် ရှိ ကြလေရာ လူကြီးလူငယ်မရွေး ဤသို့ ဝတ်စုံအမျိုးမျိုး နန်းဝတ်နန်းစား အထွေထွေတို့ကို ဝတ်ဆင်လျက် မြင်ရ

ခြင်းမှာ မျက်စိပသာဒတွင် ထူးခြားဆန်းကြယ်လျက် ရှိ ပေ၏။ အထူးသဖြင့် မျက်စိမွဲသီ ပါးရေတွန့်လိပ် ထိပ် ပြောင် သွားကျိုးလျက်ရှိသော ဇရာပိုင်းမှ မှူးကြီး မတ်ကြီး များကို ဝတ်စုံများ၊ နန်းဝတ်နန်းစားများဖြင့် မြင်ရသည်မှာ တစ်မျိုး ထူးခြားလျက် ရှိလေသည်။ ဇရာအိုကြီးများသည် မိမိတို့၏ နေရာအသီးသီးတွင် တိတ်ဆိတ်စွာ ထိုင်လျက် ရှိကြ၍ အချို့ကလည်း လမ်းလျှောက်လိုက်၊ စကားပြော လိုက်ဖြင့် လူလတ်ပိုင်း မှူးမတ်များနှင့် ရောနှောလျက် ရှိကြ၏။ ထိုမှူးမတ်များ အားလုံး၏ မျက်နှာပေါ်၌ကား (ကရင်မလင်နန်းရင်ပြင်တွင် ပီယာတွေ့ခဲ့ဖူးသော အည တရ လူများ၏မျက်နှာမှာကဲ့သို့) ဆန့်ကျင်ဘက်လက္ခဏာ နှစ်ခုကို တွေ့ ရ၏။ လက္ခဏာတစ်ခုကား အရေးကြီးသော အခြင်းအရာတစ်ခုကို စောင့်စား မျှော်လင့်လျက်ရှိသော လက္ခဏာဖြစ်၍ အခြားတစ်ခုမှာ ဘော့စတွန်ဖဲကစားခြင်း အကြောင်း၊ ထမင်းချက်ခြင်းအကြောင်း၊ မာကြောင်းသာ ကြောင်း စသော ကိုယ်ရေးကိုယ်တာကိစ္စများကို စိတ် ဝင်စားလျက်ရှိသည့် လက္ခဏာဖြစ်၏။

ပီယာသည် ထိုခန်းမဆောင်ထဲသို့ ရောက်လျက် ရှိ၏။ နံနက်စောစော ကတည်းက ဂီယာသည် မှူးမတ် အဝတ်အစားကို ဝတ်ဆင်လျက် အဆင်သင့် ပြင် ထား သည်။ ၎င်း၏ မှူးမတ်အဝတ်အစားမှာ အတော်ပင် ကျပ် လျက်ရှိပေပြီ။ ပီ ယာသည် တစ်မနက်လုံး စိတ်လှုပ်ရှား လျက် ရှိလေသည်။ မှူးမတ်များသာမက သူဌေးသူကြွယ် အသည်မျိုးရိုးများအားလုံး တက်ရောက်မည့် ထိုစည်းဝေး သဘင် ကြီးသည် ပီယာ၏ခေါင်းထဲတွင် အချိန်အတန် ကြာမျှ တိမ်မြုပ်ပျောက်ကွယ်နေခဲ့ သော အတွေးအခေါ် များကို ပြန်၍ ပေါ်လာစေခဲ့ပေသည်။ ထိုအတွေးအခေါ် များ ကား ပြင်သစ်စာရေးဆရာကြီး ရှူးဆူး၏ လူမှုပဋိညာဉ် ကျမ်းလာ အချက်အလက် များနှင့် ပြစ်သစ်တော်လှန်ရေး ကြီး၏ အကြောင်းအရာများ ဖြစ်ကြပေသည်။ ဘုန်းတော် ကြီးသော ဘုရားသည် ပြည်သူပြည်သားများနှင့် စည်းဝေး တိုင်ပင်ခြင်း ပြုရန် မော်စကိုသို့ ကြွရောက်တော်မူမည် ဟူသော အမိန့်တော်ပြန်တမ်းကို ဖတ်ရ

ပြီးသည့်နောက် ဦကား မိမိ၏ခေါင်းထဲတွင် ပေါ်ပေါက်လျက်ရှိခဲ့သော အတွေးအခေါ်များသည် ပို၍ ခိုင်မာလာခဲ့လေသည်။ ဤ သို့ဖြင့် မိမိမျှော်လင့်တောင့်တလျက်ရှိသော အဖြစ်အပျက် ကြီးတစ်ရပ်သည် ဆိုက်ရောက်လာချေတော့မည်ဟု တွေး တောလျက်ရှိရင်း ပီယာသည် စကားဝိုင်းများသို့ လှည့် လည်နားထောင်လျက် ရှိ၏။ သို့ရာတွင် မိမိအတွေးအခေါ် များနှင့် ကိုက်ညီသည့် စကားဝိုင်းဆို၍ တစ်ဝိုင်းမျှ မတွေ့ရချေ။

စည်းဝေးသဘင်တွင် ဘုန်းတော်ကြီးသောဘုရား ၏ အမိန့်တော်ပြန်တမ်းကို ဖတ်ကြားလေရာ တက်ရောက် သူ မှူးကြီးမတ်ရာ သူဌေးသူကြွယ်အားလုံးက စိတ်အား ထက်သန်စွာ ထောက်ခံကြသည်။ ထို့နောက် မင်းပရိသတ် များသည် အမိန့်တော်ပြန်တမ်းအား ကိုယ့်အစုကလေးများ နှင့် ကိုယ် ဝေဖန်ဆွေးနွေးလျက် ရှိကြလေသည်။ ဆွေးနွေး ဝေဖန်ချက်များကိုသာမက ဘုရင်မင်းမြတ် ကြွတော်မူလာ သောအခါတွင် သူကောင်းမျိုးနွယ်များ၏ နာယကများက မည်သည့် နေရာမှ ရပ်၍ ဆီးကြိုသင့်သည်။ ဘုရင်မင်း မြတ်အား ဆီးကြိုသည့်အနေဖြင့် ကပွဲကို မည်သည့်နေ့ ရက်တွင် ကျင်းပသင့်သည် စသည့်ကိစ္စများနှင့် မှူးမတ်များ အနေဖြင့် နယ်လိုက် အုပ်စုခွဲ၍ ဆီးကြိုသင့်သလော၊ ခရိုင်အလိုက် အုပ်စုခွဲ၍ ဆီးကြိုသင့်သလော စသည့်ကိစ္စ ၊ များကိုလည်း ဆွေးနွေးပြောဆိုလျက် ရှိကြ၏။ သို့ရာတွင် စစ်နှင့် ပတ်သက်၍ဖြစ်စေ၊ မှူးကြီးမတ်ကြီးများ၏ စည်းဝေး သဘင်ကြီး ကျင်းပရသည့် အကြောင်းရင်းများနှင့်ဖြစ်စေ တစ်စုံတစ်ယောက်က စကားစလိုက်လျှင်ကား မည်သူမျှ ရေရေရာရာ မပြောနိုင်ကြတော့ဘဲ ယောင်ဝါးဝါးဖြစ်လျက် ရှိ ကြကာ တိတ်ဆိတ်သွားကြလေသည်။

ခန်းမဆောင်တစ်ခုထဲတွင် ရေတပ်မတော် အငြိမ်း စား တပ်ဗိုလ်ဝတ်စုံကို ဝတ်ဆင်ထားလျက် ယောကျ်ား ပီသ၍ ခန့်ညားသော လူလတ်ပိုင်းမှ လူတစ်ယောက်သည် အာပေါင်အာရင်းသန်သန်ဖြင့် စကားပြောလျက်ရှိပြီး လူ တစ်အုပ်

သည် ၎င်း၏အနီးတွင် ဝိုင်းအုံနားထောင်လျက် ရှိကြ၏။ ပီယာသည် ထိုအနားသို့ ရောက်သွားကာ ထို သူပြောသော စကားများကို နားထောင်နေမိသည်။ မြို့စား ကြီး ရော့စတော့ဗ်သည် ကက်သရင်း ဘုရင်မကြီး ရွှေ လက်ထက်တော်က စစ်ဝတ်စုံကို ဝတ်ဆင်လျက် မိမိ၏ အသိမိတ်ဆွေများကို တပြုံးပြုံးဖြင့် လိုက်လံ နှုတ်ဆက်လျက် ရှိသည်။ ခဏကြာသော် မြို့စားကြီး ရော့စတော့ဗ်သည် လည်း ထိုလူအုပ်ဘက်သို့ လျှောက်လာသည်ကို မြင်ရ၏။ မြို့စားကြီး ရော့စတော့ဗ်သည် သူတစ်ပါး ပြောစကားကို အမြဲတမ်း ခေါင်းညိတ်၍ တပြုံးပြုံးနှင့် ထောက်ခံလေ့ရှိ သည့်အတိုင်း ယခုလည်း ခေါင်းကို တဆတ်ဆတ်ညိတ် ရင်း ပြုံးလျက်ရှိလေသည်။ ထိုအတောအတွင်း၌ ရေတပ် မတော် အငြိမ်းစားတပ်ဗိုလ်သည် တစ်စုံတစ်ရာကို ပွင့်ပွင့် လင်းလင်း ထုတ်ဖော်ပြောဆိုလျက်ရှိလေရာ အလွန် အေးဆေးပါသည်ဆို သော ပုဂ္ဂိုလ်များသည်ပင် ထိုရေတပ် ဗိုလ်ဟောင်း၏စကားကို သဘောမကျသော မျက်နှာထား များ၊ မနှစ်ခြိုက်သော အမူအရာများဖြင့် တခြားသို့ လှည့် ထွက်သွား ခြင်းကို ပီယာ မြင်လိုက်ရ၏။ ပီယာသည် လူ အုပ်ကြားထဲသို့ တိုးဝင်လာကာ ထို ရေတပ်ဗိုလ်ဟောင်း၏ စကားများကို နားထောင်လျက်ရှိသည်။ ထိုရေတပ်ဗိုလ် ဟောင်းမှာ လစ်ဘရယ်ဝါဒသမားတစ်ဦး ဖြစ်ခြင်းကို တွေ့ရ၏။ သို့ရာတွင် ထို သူ၏ လစ်ဘရယ်အမြင်များမှာ ပီယာ၏ လစ်ဘရယ်အမြင်များနှင့် မတူကြချေ။ ထိုရေတပ် ဗိုလ်ဟောင်းသည် အထူးငြီးငွေ့ဖွယ်ကောင်းသော မင်းစိုး ရာဇာတို့၏ အသံအောကြီးဖြင့် ဗလုံးဗထွေး ပြောဆိုလျက် ရှိ၏။ အချို့သော သရများနှင့်ဗျည်း များကိုကား ပီသအောင်  ရွတ်ဆိုနိုင်ခြင်း မရှိချေ။ ထို့မျှမက ၎င်း၏အမြင်များသည် လစ်ဘရယ်အမြင်များဖြစ်သည့်တိုင်အောင် လေယူလေသိမ်း မှာကား ပဒေသရာဇ် ဆန်၍ နေပေသေးသည်။ ၎င်း၏ လေသံမှာ မင်းစိုးရာဇာတစ်ဦးက အစေခံတစ်ဦး ကို လှမ်း၍ “ဟေ့ ငါ့ဆေးတံယူခဲ့စမ်း”ဟု စေခိုင်းသော အသံမျိုး ဖြစ်သည်။

"ဘုန်းတော်ကြီးသော ဘုရား၏သစ္စာတော်ကို ထမ်းရွက်ဖို့အတွက် စမိုးလင့် နယ်က အချိုးကျ အရေးပေါ် စစ်သည်တပ်သားတွေ အမြောက်အမြား စုဆောင်း ပေးတာ နဲ့ ကျုပ်တို့ မော်စကိုကကော အချိုးကျ အရေးပေါ်စစ်သည် တပ်သားတွေ စုဆောင်းပေးရတော့မှာလားဗျ။ အကယ်၍ ဘုန်းတော်ကြီးသော ဘုရားရဲ့ သစ္စာ တော်ကို ရိုသေကျိုးနွံ ကြောင်း ပြချင်ရင် တခြားနည်းလမ်းတွေ မရှိတော့ဘူးလား။ ၁၈၀၇-ခုနှစ်တုန်းက အရေးပေါ်စစ်သည် တပ်သားအချိုး ကျ စုဆောင်းပေးခဲ့တဲ့ အတွက် ကျုပ်တို့ နယ်သူနယ် သားတွေ ဘယ်ကလောက် ဒုက္ခရောက်ခဲ့ကြတယ် ဆိုတာ ကို ရောင်းရင်းတို့ မေ့ကြပြီလား။ အရေးပေါ် စစ်သည် တပ်သား စုဆောင်း ပေးခြင်းဟာ ဘုန်းတော်ကြီးရဲ့သားများ၊ သူခိုးများ၊ ဓားပြများကို ကျိကျိတက် ချမ်းသာစေခြင်းက လွဲလို့ နိုင်ငံတော်မှာ ဘာမှ အကျိုးအမြတ်မရှိဘူး ဆိုတာကို ရောင်းရင်းတို့ နေကြပြီလား"

မြို့စားကြီး ရော့စတော့ဗ်သည် ပြုံးကာ ရောယောင် ခေါင်းညိတ်၍ ထောက်ခံနေသည်။

"ကဲ ကျုပ်တို့က အချိုးကျ အရေးပေါ် စစ်သည် တပ်သား စုဆောင်းပေးပါပြီ တဲ့။ ဘုန်းတော်ကြီးသော ဘုရားမှာ ဘာများ အကျိုးထူးသလဲ။ ဘာအကျိုးမှ မထူး ဘူး။ ကျွန်တွေကို စစ်ထဲထည့်လိုက်ရတဲ့အတွက် ကျုပ်တို့မှာ လယ်ယာ အလုပ်အကိုင် ပျက်စီးခြင်းပဲ အဖတ် တင်ရုံရှိမယ်။ နိုင်ငံတော်အတွက် တကယ် စစ်သည် ( တပ်သားလိုတယ်ဆိုရင် နောက်ထပ်စစ်သည်တော်များကို သတ်သတ် စုဆောင်းပါ။ ခုလို မြေကျွန်တွေကို အရေးပေါ် စစ်သည်အဖြစ်နဲ့ ထည့်လိုက်ရရင် စစ်ပြီးလို့ပြန်လာတဲ့အခါ ဒီမြေကျွန်တွေဟာ စစ်တိုက်ဖို့လဲ အသုံးမကျ၊ လယ်လုပ် ဖို့လဲ အသုံးမကျ၊ တောင်မရောက် မြောက်မရောက်နဲ့ အားလုံး ဒုက္ခတွေ့ကြဖို့ပဲ ရှိ မယ်။ မှူးမတ်တွေကို ကျုပ် ပြောချင်တာက ခင်ဗျားတို့ အသက်အိုးအိမ် စည်းစိမ် တွေကို ဒါလောက် တွယ်တာမနေကြပါနဲ့။ တိုင်းပြည်အတွက် တကယ်

အရေးတော်ပေါ်ပြီဆိုရင် ကျွန်တွေကို ကိုယ်စား ထည့်မနေကြပါနဲ့။ ကိုယ်တိုင် လိုက်ကြပါ။ ကိုယ်တိုင် စစ်မှုထမ်းကြပါ။ ဘုန်းတော်ကြီးသော ဘုရားက အမိန့် တော်သာ တစ်ခွန်းရှိလိုက်ပါ။ ကျုပ်တို့ ဘာလို့ မသေရဲစရာ ရှိသလဲ။ ဘာဖြစ်လို့ အသက်ကို မစွန့်လွှတ်ရဲစရာရှိသလဲ”

မြို့စားကြီး ရှေ့စတော့ဗ်မှာ ထိုစကားများကို သဘောကျကာ သွားရည်များ စီးကျလျက်ရှိရာက ပီယာ ကို တံတောင်ဖြင့် တွတ်ကာ နားထောင်စေသည်။ သို့ရာတွင် ပီယာကား နားမထောင်လိုဘဲ ၎င်းကိုယ်တိုင်သာ စကားပြောချင်စိတ် ပေါက်နေသည်။ ပီယာသည် ရှေ့သို့ တိုးလာခဲ့သည်။ ၎င်း၏စိတ်ထဲတွင်လည်း လှုပ်ရှားလျက် ရှိသည်။ မည်သည့်အကြောင်းကြောင့် လှုပ်ရှား၍ မည် သည့်စကားကို ပြောရမည်ကိုလည်း မသိချေ။ ပီယာသည် စကားပြောရန် ပါးစပ်ကို ဟလိုက်သည်။ ထိုအခိုက် သွားတစ်ချောင်းမျှ မရှိတော့သည့် အတိုင်ပင်ခံ မှူးမတ် ကြီးတစ်ဦးသည် ပထမစကားပြောသူ၏အနီးတွင် ရပ် လျက်ရှိရာက ပီယာကိုဝင်၍ ဟန့်တားလိုက်၏။ ထို့နောက် စကားအချေအတင် ပြောပွဲများကို ထိန်းသိမ်းကွပ်ကဲခြင်း ငြင်းခုံခြင်း စသည့်ကိစ္စများတွင် များစွာ ကျွမ်းကျင်လျက် ရှိသူတစ်ဦး၏ဟန်ဖြင့် ရေတပ်ဗိုလ်ဟောင်းကို တစ်လုံး ချင်း ချေပပြောဆိုခြင်း ပြုလေသည်။

“ကျွန်တော် တစ်ခု အစီရင်ခံပါရစေ လူကြီးမင်း များ ခင်ဗျား” ထို အတိုင်ပင်ခံ အမတ်ကြီးသည် သွားမရှိ သော ပါးစပ်ကို လှုပ်၍ပြောဆိုလျက်ရှိ၏။ “ကျွန်တော်တို့ ယနေ့ ဤနေရာကို ရောက်ရှိလာကြခြင်းဟာ ဘုန်းတော် ကြီးသော ဘုရားအနေနဲ့ စစ်သည်တပ်သား စုဆောင်း မည်လား။ အရေးပေါ်စစ်သည် အချိုးကျ ထည့်ဝင်ခြင်းကို လက်ခံမည်လားဆိုတဲ့ကိစ္စကို ဆွေးနွေးငြင်းခုံဖို့ လာကြခြင်း မဟုတ်ပေဘူးဗျ။ ကျွန်တော်တို့ လာရောက်စုဝေး ခြင်းဟာ ဘုန်းတော်ကြီးသော ဘုရားရဲ့ အမိန့်တော် ပြန်တမ်းနဲ့ ပတ်သက်လို့ မည်သို့ မည်ပုံ ဆောင်ရွက်ကြ မည်လဲ၊ မည်သို့ မည်ပုံ တုံ့ပြန်ကြမည်လဲဆိုတဲ့ ပြဿနာ ကို

ဆွေးနွေးစဉ်းစားဖို့သာ ဖြစ်တယ်ဗျ။ စစ်သည်တပ်သား စုဆောင်းမည်လား၊ အရေးပေါ် စစ်သည်အချိုးကျ ထည့် ဝင်ခြင်းကို လက်ခံမည်လားဆိုတဲ့ ကိစ္စက ကျွန်တော်တို့မှာ ဆုံးဖြတ်ပိုင်ခွင့် မရှိပေဘူးဗျ။ ရွှေနန်းတော်ကြီးကသာ ဆုံးဖြတ်ပိုင်ခွင့်ရှိပေတယ်" ။

ပီယာသည် ထိုစကားကို ကြားလိုက်ရသည်တွင် အကွက်ပေါ်ချေပြီဟု ဝမ်းသာသွားသည်။ မှူးကြီးမတ်ကြီး များအား ကျယ်ပြန့်စွာ စဉ်းစားတွေးခေါ်ခြင်း မပြုနိုင်အောင် ပေါင်ခေတ်ပေးသည့် အတိုင်ပင်ခံ အမတ်ကြီး၏ ကျဉ်း မြောင်းသော သဘောထားကို ချေပမှုဖြစ်တော့မည်ဟု သဘောပေါက်လာသည်။ ထို့ကြောင့် ပီယာသည် ပရိသတ် ကြားထဲမှ တိုးဝှေ့ကာ ရှေ့တွင်ရပ်လိုက်၏။ သို့သော်လည်း မည်သည့်စကားကို အရင်စပြောရမည် မသိချေ။ နောက် ဆုံး၌ ပီယာသည် ပါးစပ်ထဲတွင် ရောက်လာသည့်စကား များကို ပြင်သစ်စကားလုံး ကလေးများ ညှပ်၍ ပြောဆိုလျက် ရှိလေသည်။

"ကျွန်တော့်ကို ကြားဖြတ် ပြောခွင့်ပြုစေလိုပါတယ် ( အမတ်ကြီးခင်ဗျား" ပီယာက အမတ်ကြီးဘက်သို့ လှည့် ပြောလိုက်၏။ (ပီယာသည် အမတ်ကြီးနှင့် ရင်းနှီးသော် လည်း အစည်းဝေးသဘင်၌ ဘွဲ့ထူးမည်ရည်ဖြင့် ခေါ်ရန် လိုအပ်သည်ဟု ယူဆသည်။) "ကျွန်တော့်အနေနဲ့ ပြော ရမယ်ဆိုရင် စောစောက အချိုးကျ အရေးပေါ်စစ်သည် ထည့်ဝင်ခြင်း မပြုသင့်လို့ ပြောသွားတဲ့ ရောင်းရင်းကြီးနဲ့ သဘောထားချင်း မတူပါဘူး။ ဒါပေမဲ့ (ပီယာသည် အတန်ကြာမျှ ရပ်နေသည်။ "လေးစား ဂုဏ်ပြုအပ်သော "တစ်ဖက်က အတိုက်အခံပုဂ္ဂိုလ်ကြီး"ဟု ပြော၍ ကောင်း လေမည်လား စဉ်းစားခြင်းဖြစ်၏။) ကျွန်တော် အဲဒီပုဂ္ဂိုလ် ကိုလဲ မသိပါ ဘူး။ ဒါပေမဲ့ ကျွန်တော်တို့ ဒီကို လာရောက် စုဝေးကြခြင်းဟာ အမတ်ကြီး အမိန့်ရှိ သွားသလို အမိန့် တော် ပြန်တမ်းကို ထောက်ခံဆန္ဒပေးဖို့ သက်သက် တွင်တော့ မဟုတ်ပေဘူး ခင်ဗျ။ ကျွန်တော်တို့ရဲ့ အဖ နိုင်ငံတော်ကြီးကို မှူးမျိုး မတ်မျိုးတွေ

အနေနဲ့ ဘယ်ပုံဘယ် နည်း ကူညီနိုင်တယ်ဆိုတဲ့ နည်းလမ်းတွေကိုလဲ စဉ်းစား ခြင်း ပြုရလိမ့်မယ်လို့ ထင်ပါတယ်။ ကျွန်တော်တို့ဟာ ပိုင်ကျွန်ပိုင်တွေအနေနဲ့ မိမိ တို့ပိုင်တဲ့ ကျေးကျွန်များ ကို နိုင်ငံတော် စစ်မှုထမ်းဖို့အတွက် ပေးလှူရုံ၊ အချိုးကျ ထည့်ဝင်ရုံနဲ့ မပြီးသေးပါဘူး။ ဤမျှလောက် ထည့်ဝင်ခြင်း မျိုးကိုလည်း ဘုန်း တော်ကြီးသော ဘုရားက ကျေနပ် တင်းတိမ်တော်မူမယ် မထင်ပါဘူး။ အရေးကြီး တာက  ကျွန်တော်တို့ကိုယ်တိုင် အမြောက်စာများအဖြစ် ဤ စစ်ကြီးထဲမှာ ပါဝင် တိုက်ခိုက်ဖို့ လိုပါတယ်။ ကျွန်တော် တို့ဟာ အကြံပေး ဉာဏ်ပေးသူများကို နောက်ထပ် အကြံဉာဏ်ပေးနေခြင်းနဲ့ မလုံလောက်ပါဘူး။ “အမြောက် စာ အဖြစ် ခံပြီးဝင်တိုက်ဖို့ လိုပါတယ်”

အချို့သူများသည် အမတ်ချုပ်ကြီး၏ လှောင်ပြောင် သော အပြုံးနှင့် ပီ ယာ၏ ပြောင်ကျလှသော ထင်မြင်ချက် များကို ကြားလိုက်ရသည့်အတွက် မသိမသာ ရှောင်ထွက် သွားကြသည်။ ပီယာ၏ စကားများကို ကျေနပ်သူမှာ ရေ တပ်ဗိုလ်ဟောင်း၏ စကားများကိုလည်းကောင်း၊ အမတ် ကြီး၏ စကားများကို လည်းကောင်း ကြားကြားသမျှကို အမြဲတမ်း ကျေနပ်သော မြို့စားကြီး ရေ့ာစ တော့ဗ်တစ်ဦး သာလျှင် ရှိလေသည်။

“ဒီတော့ ခုစည်းဝေးသဘင်မှာ ကျွန်တော်တို့ ဆွေးနွေးရမယ့် ပြဿနာက ကျွန်တော်တို့ဟာ အဖနိုင်ငံ တော်ကြီးအတွက် ဘယ်ပုံဘယ်နည်း ကူညီနိုင်မယ်ဆို တဲ့ ပြဿနာပဲ။ ဒီပြဿနာကို မဆွေးနွေးခင်မှာ ပထမ ကျွန်တော်တို့ရဲ့ တပ်တော် များမှာ စစ်သည်တပ်သားဦးရေ ဘယ်လောက်ရှိသလဲ။ ကျွန်တော်တို့ တပ်တော် များရဲ့ အခြေအနေဟာ ခုဘယ်အခြေအနေ ရောက်နေပြီလဲဆိုတဲ့ ကိစ္စများကို ဘုရင်မင်းမြတ်၊ ဘုန်းတော်ကြီးသော ဘုရင် မင်းမြတ်ထံ လျှောက်ထားမေးမြန်းဖို့ လိုပါလိမ့်မယ်။ ပြီးတော့ ပီယာက ဤသို့ ပြောလိုက်သည်တွင် အများက ထို အချက်ကို ဝိုင်းဝန်းကန့်ကွက်ကြသည်။ အပြင်းထန်ဆုံး ကန့်ကွက်သူမှာ ပီယာနှင့်

ဘော့စတွန် ဖဲကစားဖက်ဖြစ်၍ ပီယာအား လေးစားသော သိဟောင်းကျမ်း ဟောင်းဖြစ်သူ စတီပန်အက်ဒရာဆင်ဆိုသူ ဖြစ်လေသည်။ အက်ဒရာဆင် သည် စစ်ဝတ်စုံကို ဝတ်ထား၏။ အက်ဒရာဆင်သည် စစ်ဝတ်စစ်စားများကို ဝတ်ထား ခြင်းကြောင့်ပေလော မသိ။ ခါတိုင်းကဲ့သို့ ဖော်ရွေလေးစားသော အမူအရာမျိုး မရှိ ဘဲ မျက်နှာထား တင်းလျက်ရှိခြင်းကို တွေ့ရ၏။ အက်ဒရာ ဆင်သည် ဒေါသထွက် လျက်ရှိသော အမူအရာဖြင့် ပီယာ ကို အော်ဟစ်ပြောဆိုလိုက်သည်။

"ကျုပ် ကန့်ကွက်တယ်။ ပထမအချက်အားဖြင့် ကျုပ်တို့တစ်တွေမှာ တပ်မတော်များအကြောင်းနဲ့ ပတ်  သက်လို့ ဘုန်းတော်ကြီးသော ဘုရားကို မေးမြန်းလျှောက် ထားခွင့် မရှိဘူး။ ဒုတိယအချက်၊ ကျုပ်တို့ မှူးမျိုးမတ် နွယ်တွေ မှာ ဒီလို စုံစမ်းလျှောက်ထားခွင့် ရှိတယ်ဆိုရင်လဲ ဘုန်းတော်ကြီးသော ဘုရား အနေနဲ့ ဒီလိုကိစ္စမျိုးကို ဖြေ ကြားခြင်း ပြုတော်မမူနိုင်ဘူး။ ကျုပ်တို့ တပ်မတော် များ ဟာ ရန်သူတပ်များရဲ့ လှုပ်ရှားမှုကိုတည်ပြီး လှုပ်ရှား နေကြခြင်းဖြစ်တယ်။ ကျုပ်တို့ တပ်တော်များရဲ့ အရေ အတွက်ဟာလဲ ကာလဒေသကိုကြည့်ပြီး တိုး ခြင်း၊ လျှော့ ခြင်းရှိတယ်။ ဒါတင်မကဘူး။ ဒီကိစ္စဟာ လျှို့ဝှက်ကိစ္စ ဖြစ်တယ်"

ထိုအခိုက် အရပ်အမောင်း သင့်သင့် အသက် လေးဆယ်ခန့်ရှိသော သူကောင်းမျိုးနွယ်တစ်ယောက် ထ လာပြန်သည်။ ထိုသူကောင်းမျိုးကား ပီယာ နှင့် ဂျစ်ပစီ ကချေသည်များအိမ်တွင် မကြာခဏ တွေ့ဖူးလျက် ဖဲကစား ကြမ်းသူ တစ်ယောက်အဖြစ် ထင်ရှားသူဖြစ်၏။ ထို သူကောင်းမျိုးသည်လည်း စစ်ဝတ်စစ်စားကို ဝတ်ထား လျက်ရှိသဖြင့် အသွင်တစ်မျိုးပြောင်းလျက် ရှိလေ သည်။ ( သူသည် ပီယာအနီးသို့ ရောက်လာကာ အက်ဒရာဆင် စကားမဆုံးသေးမီ ဝင်၍ပြောလိုက်သည်။

“ဟုတ်တယ်။ ဒီအချိန်မှာ ဒီပြဿနာတွေကို ငြင်းခုံနေဖို့ အချိန်မဟုတ်ဘူး။ အလုပ်လုပ်ဖို့ အချိန်ဖြစ် တယ်။ ရုရှားနိုင်ငံကြီးထဲမှာ စစ်ဖြစ်နေတယ်ဗျ။ ရုရှား နိုင်ငံကြီးကို ဖျက်ဆီးဖို့ ကျုပ်တို့ ဘိုးဘွားဘီဘင်တွေရဲ့ သင်္ချိုင်းတွေကို မီးတိုက်ဖို့၊ ကျုပ်တို့မယားတွေ ကလေးတွေ ကို ခေါ်သွားဖို့ ရန်သူတွေ ချီလာနေကြပြီ။ ဒီ အချိန်ဟာ စကားပြောဖို့ အချိန်မဟုတ်ဘူး။ အလုပ်လုပ်ဖို့ အချိန်၊ အလုပ်လုပ်ဖို့ အချိန်”

ထိုသူကောင်းမျိုးသည် ရင်ကိုထု၍ ပြောလျက် ရှိ၏။

“ဒီတော့ ကျုပ်တို့ မှူးမတ်တွေ ကိုယ်တိုင် လက်နက် ကိုင်ရလိမ့်မယ်။ စစ်မြေပြင်ကို သွားရလိမ့်မယ်။ ဘုန်းတော် ကြီးသော ဘုရားအတွက် အသက်ကို စွန့်ကြရမယ်”

ထိုသူသည် အော်ဟစ်ပြောဆို၍ နီရဲလျက်ရှိသော မျက်လုံးများဖြင့် မင်း ပရိသတ်ကို လှမ်းကြည့်လိုက်သည်။ ပရိသတ်များကလည်း သောင်းသောင်းဖြဖြ ဩဘာပေး ကြ၏။

”ရုရှားဆိုတဲ့ လူမျိုးဟာ ကိုယ့်ယုံကြည်ချက်၊ ကိုယ့်ထီးကိုယ့်နန်းနဲ့တကွ အဖ နိုင်ငံတော်ကြီးကို ကာကွယ် တဲ့ နေရာမှာ သွေးချောင်းစီးအောင် ကာကွယ်တဲ့ လူမျိုး ဖြစ်တယ်။ ကျုပ်တို့ဟာ ရုရှားလူမျိုးတွေ ဖြစ်တယ်။ ဒါ ကြောင့် ကျုပ်တို့ ထီးနန်း၊ ကျုပ်တို့ ယုံကြည်ချက်၊ ကျုပ်တို့ နိုင်ငံတော်ကို သွေးနဲ့ကာကွယ်ရမယ်။ ကျုပ်တို့ဟာ အဖ နိုင်ငံတော်ရဲ့ သားကောင်းမှန်လို့ရှိရင် ငြင်းခုံမှုတွေကို ရပ်တန်း က ရပ်ကြပါ။ ရုရှားလူမျိုးဟာ ရုရှားနိုင်ငံကြီးကို ဘယ်လို ကာကွယ်ခဲ့သလဲဆိုတာ ဥရောပတစ်တိုက်လုံး သိအောင် ပြကြစမ်းပါ”

ပီယာသည် ၎င်း၏စကားကို ချေပလိုက်ချင်၏။ သို့ရာတွင် စကားအစကို ရှာ၍မရချေ။ ၎င်း၏အသံသည် ထိုသူကောင်းမျိုး၏ အသံကို လွှမ်းမိုးခြင်း မပြုနိုင်ဟုလည်း ယူဆလျက် ရှိပေသည်။

နောက်ဆုံးသို့ ရောက်နေသော မြို့စားကြီး ရော့ စတော့ဗ်ကား ထုံးစံအတိုင်း ခေါင်းညိတ်ထောက်ခံလျက် ရှိ၏။ မင်းပရိသတ်ကလည်း စကားတစ်ခွန်းဆုံးတိုင်း "မှန်တယ်၊ ဟုတ်တယ်"ဟု အော်ဟစ်ထောက်ခံလျက် ရှိကြသည်။

ပီယာသည် အဖနိုင်ငံတော်ကြီးအတွက် မိမိ၏ စည်းစိမ်ဥစ္စာများ ကျေးကျွန်များနှင့်တကွ မိမိကိုယ်ကိုပါ လှူဒါန်းလိုသည်ဟုပင် ပြောလိုက်ချင်သည်။ သို့ရာတွင် စကားလုံးများသည် ပါးစပ်မှ မထွက်နိုင်ဘဲ ဖြစ်နေကြ သည်။ ခန်းမဆောင်၌ တစ်ရောက်တစ်ပေါက် အော်ဟစ် ပြောဆိုလျက် ရှိကြသဖြင့် မြို့စားကြီး ရော့စတောဗ်မှာ လည်း မည်သူ့စကားကို ခေါင်းညိတ်ထောက်ခံရမည် မသိဘဲ ဖြစ်လျက်ရှိ၏။ မင်းပရိသတ်ထုသည် တဖြည်း ဖြည်းများလာလျက် ကွဲသွားလိုက် ပြန်စုလာလိုက်ဖြင့် ရှုပ်ထွေးလျက်ရှိပြီးနောက် တစ်ယောက်တစ်ပေါက် ဆူညံ စွာ ပြောဆိုကာ ခန်းမဆောင်ကြီးဘက်သို့ ရောက်သွားကြ ပြန်သည်။ ပီယာကား စကားပြောရန် ကြိုးစားသော်လည်း မအောင်မြင်ရုံမျှမက အချို့က ၎င်းပြောသည့် စကားကို နှောင့်ယှက်ခြင်း၊ ၎င်းအား ဘေးသို့ တွန်းပစ်ခြင်းဖြင့် နှောင့်ယှက်လျက် ရှိကြ၏။ အချို့ကလည်း အနီးသို့ ရောက်သွားသည်နှင့် ပီယာအား ရန်သူကြီး သဖွယ် စကား မပြောကြဘဲ တစ်ဖက်သို့ ရှောင်ထွက်သွားကြလေသည်။ ဤသို့ ပီယာအား ပြုမူဆက်ဆံကြခြင်းမှာ ပီယာ၏စကား ကို မနှစ်သက်ကြခြင်းကြောင့်ကား မဟုတ်ချေ။ (ထိုအချိန် ၌ မင်းပရိသတ်သည် ပီယာ၏စကားများနှင့်တကွ ပီယာ နောက် ပြောဆိုသူတို့၏ စကားများအားလုံးကို မေ့သွားကြ လေပြီ။) ထိုအချိန်၌ မင်းပရိသတ်ကြီးမှာ ထပ်ပြန်တလဲလဲ ကြားနေရသော စကားများကြောင့်

ငြီးငွေ့ လျက်ရှိကာ ထိုငြီးငွေ့မှုမှ ထွက်ပေါက်ရလိုလျက် ရှိကြခြင်းကြောင့် ဖြစ်၏။ နောက်ဆုံး၌ မင်းပရိသတ်သည် မိမိတို့၏ဆန္ဒနှင့် ဆန့်ကျင်လျက်ရှိသော ပီယာအပေါ်တွင် ဒေါသများကို စုပုံသွန်းချလိုက်ခြင်းသာ ဖြစ်လေသည်။ ထိုနောက် တစ်ယောက်ပြီးတစ်ယောက် စကားပြောကြ ပြန်သည်။

"ရှုရှား တမန်တော်" အမည်ရှိ မဂ္ဂဇင်းတစ်စောင်၏ အယ်ဒီတာဖြစ်သူ ဂလင်ကာ ထ၍ စကားပြောပြန်သည်။ (ပရိသတ်ထဲမှ "စာရေးဆရာ၊ စာရေးဆရာ"ဟူသော ကာ ကား ထွက်ပေါ်လာသည်။) ဂလင်ကာက "ခေါ်ကို ခေါ်ချင်း၊ လှံကိုလှံချင်း တုံ့ပြန်ရမယ်" ဟုဆိုကာ ၎င်းသည် မိုးချုန်းသံနှင့် လျှပ်စီးလက်ခြင်းကို ပြုံး၍ ကြည့်နေသော ကလေးတစ်ယောက်ကို တွေ့ဖူးကြောင်း၊ မိမိတို့မှာ "ကလေး"မဟုတ်သဖြင့် ပြုံး၍ ကြည့်မနေနိုင်ကြောင်းဖြင့် ပြောဆိုသွား၏။

"ဟုတ်တယ်၊ မိုးချုန်းသံကို မိုးချုန်းသံနဲ့ တုံ့ပြန် ရမယ်"ဟု နောက်တန်းမှ အော်ကြသည်။

ထိုနောက် မင်းပရိသတ်သည် စားပွဲရှည်ကြီးနား တွင် စုရုံးကြ၏။ စားပွဲရှေ့၌ကား ခေါင်းပြောင်ပြောင် ဆံပင်ဖြူဖြူနှင့် မှုးကြီးမတ်ရာအစုများကို အမှုးပြုသော အသက်ခုနစ်ဆယ်ကျော် အမတ်ချုပ်ကြီးများ ထိုင်လျက် ရှိကြ၏။ ထိုအမတ်ချုပ်ကြီးများမှာ ကလပ်ရှိ ဘော့စတွန် ဖဲဝိုင်းများတွင်လည်းကောင်း၊ ၎င်းတို့၏အိမ်များတွင်လည်း ကောင်း ပီယာ မြင်တွေ့နေကျ ပုဂ္ဂိုလ်ကြီးများ ဖြစ်ကြ၏။ ပရိသတ်ကြီးသည် အုတ်အုတ်ကျက်ကျက် စကား ပြောလျက်ရှိရင်း စားပွဲရှည်ကြီးနားသို့ တိုးလာကြသည်။ အမတ်ချုပ်ကြီးများမှာ မင်းပရိသတ်ကြီးနဲ့ ထိုင်ခုံနောက်မှီ ကြားတွင် ညပ်တော့မည်ကဲ့သို့ ထင်ရ၏။ ထိုနောက် တစ်ယောက်ပြီးတစ်ယောက် စကားပြောကြ၏။ တစ်ခါ တစ်ရံ နှစ်ယောက်ပြိုင်တူထကြသည်။ စကားပြော သူက စကားလုံးကျ ကျန်ရစ်ခဲ့လျှင် နောက်တွင် ရပ်လျက် ရှိသော

ပရိသတ်အချို့က ဝင်၍ထောက်ကြသည်။ မှူးကြီး မတ်ရာ အစုများကို အမှူးပြု သော အမတ်ချုပ်ကြီးများ သည် တစ်ယောက်ကိုတစ်ယောက်လှမ်းကြည့်နေကြ သည်။ ပီယာသည်လည်း ပရိသတ်ကဲ့သို့ စိတ်လှုပ်ရှားလျက် ရှိလေသည်။ ပီယာ သည် မိမိထင်မြင်ချက်မှန်သည်ဟု ယူဆလျက်ရှိသော်လည်း မိမိစကားပြော မှား သွားပြီကို သတိထားလိုက်မိသဖြင့် ပြင်၍ ပြောလိုက်၏။

"လူကြီးမင်းများ ခင်ဗျား။ ကျွန်တော် ဆိုလိုတဲ့ အဓိပ္ပာယ်က လျှို့ဝှက်ချက် များကို ထုတ်ဖော်ပြောဆိုဖို့ လျှောက်ထားမေးမြန်းရမယ်လို့ ဆိုလိုတာ မဟုတ်ပါ ဘူး။ ကျွန်တော်တို့ဟာ နိုင်ငံတော်အတွက် ဆတက်ထမ်းပိုး ပိုပြီး စွန့်လွှတ်ခြင်းပြု နိုင်ရန်အတွက် နိုင်ငံတော်မှာ လိုအပ် နေတဲ့ အချက်များကို သိထားအောင် စုံစမ်းဖို့ ပြောခြင်းမျှ သာ ဖြစ်ပါတယ်"

ပီယာအနီးမှ အဘိုးကြီးတစ်ယောက်သည် ပီယာ ကို လှမ်း၍ ကြည့်လိုက် သည်။ သို့ရာတွင် စားပွဲထိပ်မှ တစ်ယောက်က ထအော်လိုက်ပြန်သဖြင့် တစ်ဖက် သို့ လှည့်လိုက်ပြန်သည်။

"ါ လူတွေ၊ ခင်ဗျားတို့ ဒီလို ငြင်းခုံနေကြတာနဲ့ မော်စကို တစ်မြို့လုံး ရန်သူ့ လက်ရောက်တော့မယ်ဗျ။ ကျုပ်တို့ ခင်ဗျားတို့ အသုံးမကျတာနဲ့ မော်စကိုမြို့ကို ရန်သူ့လက် အကျခံရတော့မှာလား"

ဤသို့ဖြင့် "ခင်ဗျားဟာ လောကကြီးရဲ့ ရန်သူ"ဟု အော်သံ၊ "ကျွန်တော် စကားပြောပါရစေ"ဟု ပြောသံ၊ "ဒါ့လူတွေ၊ ဒီလောက် တိုးရသလားဗျ၊ ညပ်သေ တော့ မယ်"ဟူသော အော်သံများသည် ဆူညံလျက်ရှိလေသည်။

## အခန်း ၂၃

ထိုအခိုက် စစ်ဗိုလ်ချုပ်ဝတ်စုံကို ဝတ်ဆင်လျက် ရွှေစလွယ် ကို လွယ်ထားသော မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ ချင်သည် ရင်ကို ခပ်ကော့ကော့ထား၍ ခန်းမဆောင်ထဲသို့ ဝင်လာခဲ့ပြီးနောက် စုရုံးလျက်ရှိသော မှူးကြီး မတ်ကြီးများ ကို တစ်ချက်မျှ လှမ်းကြည့်လိုက်ကာ မှူးကြီး မတ်ကြီးများ ရှေ့သို့ သွက်လက်သော ခြေလှမ်းများဖြင့် လျှောက်လာ လေသည်။

”ဘုန်းတော်ကြီးသောဘုရား ကြွလာတော်မူပါ တော့မယ်။ ခုပ် ရွှေနန်းတော်ကြီးက ထွက်လာပါပြီ။ အခြေ အနေအရပ်ရပ်ကို ထောက်၍ ကျွန်တော်တို့မှာ ဆွေးနွေး ငြင်းခုံစရာ အချိန်မရပါ။ ဘုန်းတော်ကြီးသောဘုရားက မှူးကြီးမတ်ရာများနှင့် သူဌေးသူကြွယ်များ၊ သူကောင်းမျိုး နွယ်များကို ဆင့်ခေါ်ထားပါပြီ။ စစ်စရိတ် ရန်ပုံငွေတော် သန်းပေါင်းများစွာဟာ ဟောဟိုဧည့်ခန်းဆောင်ထဲက ထွက်လာပါလိမ့်မယ်” မြို့စားကြီး ရော့စတော့ချင်က သူကြွယ်သူဌေးမျိုးရိုးများ စုဝေးလျက်ရှိသော ခန်းမဆောင် ကို ညွှန်ပြလိုက်၏။

“ကျွန်တော်တို့ မှူးကြီးမတ်ရာများရဲ့ တာဝန်က ထောင်စုအလိုက် အရေးပေါ်စစ်သည်တပ်သားများ ထည့် ဝင်ဖို့ပဲ ဖြစ်ပါတယ်”

ထို့နောက် မှူးကြီးမတ်ရာ အစုများကို အမှူးပြု သော အမတ်ချုပ်ကြီးများ၏ စည်းဝေးသဘင် ကျင်းပလေ သည်။ စည်းဝေးသဘင်မှာ တိတ်ဆိတ်စွာ ကျင်းပလျက် ရှိလေရာ ခဏကြာလျှင် “သဘောတူပါတယ်”ဟူသော အသံ၊ “ဒီအတိုင်းပဲ သဘောကျပါတယ်” ဟူသော အသံ များ ထွက်ပေါ်လာလေသည်။

ထို့နောက် စည်းဝေးသဘင်၏ စုရေးစုကိုင် အရာရှိ အား မော်စကိုသူကောင်းမျိုးနွယ်များ၏ ဆုံးဖြတ်ချက် ကို ရေးမှတ်စေသည်။ ဆုံးဖြတ်ချက်က သူကောင်းမျိုးနွယ် များက မြေကျွန် တစ်ထောင်စု တစ်စုလျှင် တစ်ကျိပ်ကျ အရေးပေါ် စစ်သည်တပ်သား ထည့်ဝင်ရန်ဖြစ်၏။ မှူးမတ် များသည် ဤမျှလောက်နှင့်

ကိစ္စပြီးသွားသည့်အတွက် စိတ်သက်သာရာရကာ ထိုင်ဖုံများကို တွန်း၍ ထလိုက်ကြ ပြီး လက်ဆန့် ခြေဆန့်သဘောဖြင့် လမ်းလျှောက်ရင်း ကိုယ့်အစုနှင့်ကိုယ် စကားပြောဆိုလျက် ရှိကြလေသည်။

"ဘုန်းတော်ကြီးသော ဘုရား ထွက်တော်မူလာ ပြီ၊ ဘုန်းတော်ကြီးသော ဘုရား ထွက်တော်မူလာပြီ" ဆိုသော အသံများကို ကြားရသဖြင့် မင်းပရိသတ်သည် အဝင် တံခါးမကြီးဆီသို့ စုပြုံလာကြလေသည်။

' ဘုန်းတော်ကြီးသော ဘုရားသည် ဘေးတွင် မှူး မတ်များ စီတန်းရပ်လျက်ရှိသည့် မင်းလမ်းမအတိုင်း ခန်းမဆောင်ထဲသို့ ကြွလာ၏။ ပရိသတ်၏ မျက်နှာများ၌ ကား ချစ်ကြောက်ရိုသေခြင်း၊ ထူးဆန်းအံ့သြခြင်း စသည့် အရပ်အရောင်များ ပေါ်လွင်လျက်ရှိလေသည်။ ပီယာမှာ ခပ်လှမ်းလှမ်းမှ ရပ်နေခြင်းကြောင့် ဘုရင်မင်းမြတ်၏ မိန့်ခွန်းကို အပြည့်အစုံ မကြားလိုက်ချေ။ ကြားရသလောက် ဆိုလျှင် ဘုရင်မင်းမြတ်၏မိန့်ခွန်း၌ ရုရှားနိုင်ငံတော်ကြီး ကို အန္တရာယ်ခြိမ်းခြောက်လျက်ရှိကြောင်းနှင့် မိမိသည် မော်စကို မှူးကြီးမတ်ကြီးများအား များစွာ အားထား မျှော်လင့်တော်မူကြောင်းလောက်သာ ပါရှိသည်ကို သတိပြု မိလိုက်၏။ မော်စကို မှူးမတ်များက မိမိတို့မှူးမတ်စည်းဝေး သဘင်၏ ဆုံးဖြတ်ချက်ကို ဆက်သလေသည်။

"မှူးကြီးမတ်ရာသေနာပတိတို့" ဘုရင်မင်းမြတ်က တုန်ရင်သော အသံဖြင့် မြွက်ကြားတော်မူသည်။

ပရိသတ်ထဲမှ လှုပ်လှုပ်ရွရွအသံများကို ကြားလိုက် ရပြီးနောက် ငြိမ်သက်သွားသဖြင့် ဘုရင်မင်းမြတ်၏သာယာ နာပျော်ဖွယ်ရှိသော စကားသံကို ပီယာကောင်းစွာ ကြား နေရသည်။

"ရှုရှားမှူးရိုးမတ်ရိုးတို့က နိုင်ငံတော်အား သစ္စာ စောင့်သိခြင်းကို ကျွန်ုပ် ခြွင်းချက်မရှိ ယုံကြည်တော်မူခဲ့ သည်။ သို့ရာတွင် ယနေ့၌ကား မှူးကြီးမတ်ကြီးတို့ သစ္စာ စောင့်သိရိုသေပုံမှာ ကျွန်ုပ် ထင်သည်ထက်ပင် သာလွန် လျက်ရှိခြင်းကို တွေ့ရသည်။ အဖနိုင်ငံတော်ကြီး၏ ကိုယ်စား အချင်းတို့အားလုံးကို ကျွန်ုပ် ကျေးဇူးတင်သည်။ အချင်းတို့ အဖနိုင်ငံကြီးကို ကာကွယ်ကြကုန်အံ့။ အချိန် သည် အဖိုးထိုက်တန်လှ၏"

ဘုရင်မင်းမြတ်၏ မိန့်ခွန်းပြီးဆုံးသွားသည်နှင့် ပရိသတ်သည် အပါးတွင် ဝိုင်းအုံကာ တစ်ယောက် တစ်ပေါက် ချီးမွမ်းပြောဆိုလျက် ရှိကြသည်။

"အချိန်ဟာ သိပ်အဖိုးတန်တယ်။ မှန်လိုက်လေ ဗျာ။ တကယ့်ကို ရာဇဂုဏ် အင်္ဂါနဲ့ကိုက်ညီတဲ့ စကား တစ်ခွန်းပေပဲ" မြို့စားကြီး ရော့စတော့ဗ်က လှိုက်လှဲစွာ ပြောလိုက်သည်။ မြို့စားကြီး ရော့စတော့ဗ်သည် နောက်ပိုင်း တွင် ရပ်လျက်ရှိခြင်း ကြောင့် မိန့်ခွန်းကို မကြားလိုက်ရ သော်လည်း သူ့နည်းနဲ့သူ နားလည်ကာ ၎င်း၏ထုံးစံ အတိုင်း ထောက်ခံလျက်ရှိလေသည်။

ဘုန်းတော်ကြီးသောဘုရားသည် မှူးကြီးမတ်ရာတို့ ၏ ခန်းဆောင်မှထွက်၍ သူကြွယ်အသည်မျိုးရိုးတို့၏ ခန်းဆောင်သို့ ကြွလာခဲ့ပြန်သည်။ ထိုခန်းဆောင်၌ ဆယ်  မိနစ်ခန့် ရပ်နားတော်မူ၏။ သူကြွယ်မျိုးရိုးတို့၏ စည်း ဝေး ခန်းဆောင်မှ ထွက်လာသောအခါ၌ ဘုန်းတော်ကြီး သော ဘုရားမှာ စိတ်ထိခိုက်လွန်းသဖြင့် မျက်ရည်များ ဝဲကျလျက်ရှိခြင်းကို ပရိသတ်အချို့ သတိထားလိုက်မိကြရာ ထို အထဲတွင် ပီယာလည်း အပါအဝင်ဖြစ်လေသည်။ နောက်မှ သိရသည်ကား ဘုန်း တော်ကြီးသော ဘုရားသည် သူကြွယ်မျိုးရိုးများအား မိန့်ခွန်းမြွက်ကြားခါနီးတွင် မျက်ရည်တွေလည်လာကာ အသံတုန်တုန်ယင်ယင်ဖြင့် နိဂုံးချုပ် စကားမြွက်ကြား သွားသည်ဟု ဆိုလေသည်။ ဘုရင်မင်းမြတ်သည် သူကြွယ်မျိုးရိုးနှစ်ဦး ခြံရံလျက်

စည်းဝေးခန်းမဆောင်မှ ထွက်လာသည်ကို ပီယာ မြင် လိုက်ရာ၌ တစ်ယောက်မှာ ပီယာ၏မိတ်ဆွေ ခပ်ဝဝ အရက်ကုန်သည်ကြီးတစ်ဦးဖြစ်ပြီး အခြားတစ်ဦးကား ပိန်ပိန်ပါးပါး မျက်နှာသွယ်သွယ် မုတ်ဆိတ်ဖွားဖွားနှင့် မြို့တော်ဝန်ဖြစ်သည်။ ၎င်းတို့နှစ်ဦးမှာလည်း စိတ်ထိခိုက် သဖြင့် မျက်ရည်လည်လျက်ရှိ၏။ ခပ်ပိန်ပိန် မြို့တော်ဝန် က ချုပ်တည်းနိုင်သော်လည်း အရက်ကုန်သည်ကြီးမှာ ကလေးငယ်တစ်ဦးကဲ့သို့ ငိုကြွေးလျက်ရှိရာက "အသက်ကို လည်းကောင်း၊ စည်းစိမ်ကို လည်းကောင်း ယူတော်မူပါ ဘုရား၊ ယူတော်မူပါဘုရား"ဟု ရွတ်ဆိုလျက်ရှိ၏။

ထိုအချိန်တွင် ပီယာ၏ စိတ်တွင်လည်း မိမိသည် ( အသက်နှင့်စည်းစိမ်ကို အဖနိုင်ငံတော်အတွက် စွန့်လွှတ် လိုကြောင်း ပြလိုက်ချင်သော ဆန္ဒများသည် တဖွားဖွား ပေါ်ပေါက်လျက်ရှိသည်။ စည်းဝေးသဘင်ပွဲတုန်းက ဧကရာဇ်စနစ် ဆန့်ကျင်သယောင်ယောင် လေသံမျိုး ပြောခဲ့ခြင်းကိုပင် နောင်တရလျက်ရှိသည်။ မြို့စားကြီး မာဖိုနေ့ဗ်က တပ်ရင်းတစ်ရင်းစာ လူစုဆောင်းရန် ကတိ ပြုသည့်အခါတွင် ပီယာသည် မိမိကလည်း ကျွန်တစ် ထောင်နှင့် ၎င်းတို့၏ စစ်စရိတ် ဖ၀၀ ကို လှူမည်ဖြစ် ကြောင်း မော်စကို မြို့ဝန် မြို့စားကြီး ရော့စတော့ချင်အား စာရင်း ပေးလိုက်၏။

မြို့စားကြီး ရော့စတော့ဗ်သည် အိမ်သို့ပြန်ရောက် ၍ ကြင်ရာတော် မြို့စားကတော်ကြီးအား ထိုအခြင်းအရာ များကို ပြောပြသောအခါတွင် မချုပ်တည်းနိုင်တော့ဘဲ မျက်ရည်များ စီးကျလာကာ သားထွေးပီတာအား စစ်မှု ထမ်းခွင့်ပေးလိုက်လျက် မိမိ၏နာမည်ကိုလည်း စစ်မှု  ထမ်းစာရင်းတွင် သွားရောက်စာရင်းသွင်းထားလိုက် လေသည်။ တစ်နေ့၌ ဘုန်းဘဲစစ်စာ၊ နန့် နောက်တစ်နေ့၌ ဘုန်းတော်ကြီးသော ဘုရားသည် မော်စကိုမှ ပြန်ကြွသွား၏။ စစ်ဝတ်စစ်စား၊ နန်းဝတ် နန်းစားဖြင့် စည်းဝေးသဘင်ကြီးသို့ တက်ရောက်ခဲ့ကြ သော မော်စကိုမှူး

ကြီးမတ်ကြီးများသည်လည်း ၎င်းတို့၏ အဆောင်အယောင်များကို ချွတ်၍ သိမ်းဆည်းထားကြ ပြန်ကာ ကလပ်များတွင် ပျော်ပါးမြူးထူး သောက်စားလျက် ရှိကြပြန်၏။ ထိုနောက် မိမိတို့၏ စာရင်းဒိုင်များအား မြေကွက်များကို အချိုးကျ စစ်မှုထမ်း စာရင်းသွင်းရန် ညည်းညည်းညူညူဖြင့်ပင် အမိန့်ပေးလိုက်ကြ၏။ ဤသို့ အမိန့်ပေးရင်း မိမိတို့၏ အပြုအမူများကိုလည်း မိမိတို့ ဘာသာ အံ့သြလျက် ရှိကြချေသည်တမုံ့။

# အပိုင်း ၁၀

## အခန်း ၁

နပိုလီယန်သည် ဒရက်စဒင်မြို့သို့သွားရောက်ရန် ချဉ်ခြင်း ဖြစ်ခဲ့၏။ ဥရောပ ထီးဆောင်းမင်းအပေါင်းက အောက်ကျို့ ခစားကြသည်၌ "ငါ့လိုလူ ဇမ္ဗူရှိသေး သလော" ဟူသော မာနကိုချိုးနှိမ်ခြင်းငှာ မစွမ်းအောင်ဖြစ်ခဲ့၏။ ပိုလန်စစ်သူ ကြီး ဝတ်စုံကို ဝတ်လိုသောဆန္ဒ ဖြစ်ပေါ်ခဲ့၏။ ဗွန်လ၏ သာယာလှပသောနံနက်ခင်းကို တွေ့မြင်ရသည်၌ စစ်ထိုး လိုသောစိတ် တဖွားဖွားပေါ်ပေါက်ခဲ့၏။ ရုရှားသံတော် ကြီး ကူရာဂင်နှင့် တပ်ရေးချုပ်ဗလရေတို့၏ ရှေ့မှောက်၌ အမျက် ဒေါသကို မ ချုပ်တည်းနိုင်အောင်ဖြစ်ခဲ့ရ၏။ ဤအကြောင်း များကြောင့် နပိုလီယန်သည် ရုရှား နိုင်ငံကို ဝင်ရောက် တိုက်ခိုက်ခြင်း ဖြစ်လေသည်။

ရုရှားဘုရင် အလက်ဇန်းဒရားသည် "ငါကဲ့သို့သော ဧကရာဇ်ကိုစင်လျက် န ပိုလီယန် မချေမင်ပြုရာသလော" ဟု အမျက်ခြောင်းခြောင်းထွက်ခဲ့၏။ ဤ အကြောင်းကြောင့် အလက်ဇန်းဒရားဘုရင်သည် နပိုလီယန်၏စေ့စပ်ဆွေးနွေး ရေးကမ်းလှမ်းချက်ကို ငြင်းပယ်ခဲ့ခြင်း ဖြစ်လေသည်။ ဗိုလ်ချုပ်ကြီးဘာကလေ သည် မိမိ၏တာဝန်ကို ကျေပွန်စွာ ထမ်းရွက်လို၏။ စစ်သူကြီးတစ်ဦးအဖြစ် ကျော်စောလို၏။ ဤအကြောင်းကြောင့် ၎င်းသည် ရုရှားတပ်မတော်ကြီးကို အကောင်းဆုံးကွပ်ကဲရန် ကြိုးစားခဲ့ခြင်း ဖြစ်လေသည်။ နီကိုလေသည် မိမိ၏ရှေ့ တွင် ညီညာပြန့်ပြူးသောလွင်ပြင် ကို မြင်သည်၌ မြင်းကို ဒုန်းစိုင်း၍ စီးလိုစိတ်များ တဖွား ဖွားပေါ်ပေါက်လာခဲ့၏။ ဤအကြောင်းကြောင့် နီကိုလေ သည်

တပ်မှူး၏အမိန့်မရဘဲ ပြင်သစ်စစ်တပ်များကို လိုက်လံတိုက်ခိုက်ခဲ့ခြင်း ဖြစ်လေသည်။ ဤသို့ဖြင့် ထို စစ်ပွဲကြီးတွင် ပါဝင်တိုက်ခိုက်ခဲ့ကြသော များလှစွာသော လူများသည် မိမိတို့၏အမူအကျင့် အမျိုးမျိုး၊ အလေ့အထ အထွေထွေ၊ အခြေအနေ အရပ်ရပ်၊ ရည်ရွယ်ချက်အသီးသီး နှင့် အညီ ပါဝင်တိုက်ခိုက်ခဲ့ကြခြင်း ဖြစ်လေသည်။ ၎င်းတို့ သည် ၎င်းတို့ပြုလုပ်သောအမှုများကို ၎င်းတို့ဘာသာ သိသည်၊ နားလည်သည်ဟု ထင်ခဲ့ကြ၏။ ၎င်းတို့စိတ်ဆန္ဒ အလျောက်လွတ်လပ်စွာ လုပ်ဆောင်ခြင်း ဖြစ်သည်ဟု ယူဆ ခဲ့ကြ၏။ ဤအယူအဆ ဤအထင်ဖြင့်ပင် ၎င်းတို့သည် ထိတ်လန့်ခြင်း ဖြစ်ခဲ့ကြ၏။မာနထောင်လွှားခြင်းပြုခဲ့ကြ၏။ ကြည်နူးခြင်းဖြစ်ခဲ့ကြ၏။ စဉ်းစားခြင်း ပြုခဲ့ကြ၏။ ဒေါသ ထွက်ခြင်း ဖြစ်ခဲ့ကြ၏။ သို့သော်လည်း စင်စစ်၌ ၎င်းတို့ သည် ဤအမှုများကို ၎င်းတို့ဆန္ဒအတိုင်း လွတ်လပ်စွာ ဆောင်ရွက်ခဲ့ကြခြင်း မဟုတ်ချေ။ ၎င်းတို့သည် ၎င်းတို့ ကိုယ်တိုင် သိမြင်နားလည်ခြင်းငှာ မစွမ်းသော အလုပ်ကြီး တစ်ခုကို ဆောင်ရွက်ကြရသူများသာ ဖြစ်လေသည်။ ၎င်း တို့သည် ရာဇဝင်စေခိုင်းရာကို ဆင်ကန်းတောတိုး ဆောင်ရွက်နေကြရသည့် ရာဇဝင်ကျေး ကျွန်များသာ ဖြစ်ကြ သည်။ ဤကား ဘုရင် ဧကရာဇ်၊ စစ်ဗိုလ်စစ်သား၊ နိုင်ငံရေး ခေါင်းဆောင်စသည့်လက်တွေ့သမားတို့၏ ပြေး၍မလွတ် သော ကံကြမ္မာပေတည်း။ ခေါင်းဆောင်ဆိုသူတို့သည် အာဏာ တည်းဟူသော ပလ္လင်ပေါ်သို့ ရောက်လာသည်နှင့် တစ်ပြိုင်နက် ၎င်းတို့၌ လွတ်လပ်ခြင်း မရှိတော့ပြီ။ ၎င်း တို့သည် ရာဇဝင်စေခိုင်းရာ ကိုလုပ်ဆောင်ကြရမည့်ရာဇဝင် ၏ ကျေးကျွန်များသာ ဖြစ်ခဲ့ကြလေပြီ။ ရာဇဝင်၏တန်ဆာ ပလာမျှသာ ဖြစ်ခဲ့ကြလေပြီ။

၁၈၁၂-ခု ဇာတ်ပွဲကြီးတွင် ပါဝင်ကပြခဲ့သည့် ဇာတ်ဆောင်တို့သည် ကာလကြာမြင့်စွာကပင် ဇာတ်ခုံ ပေါ်မှ ပျောက်ကွယ်သွားခဲ့ကြလေပြီ။ ၎င်းတို့နှင့် အတူ ၎င်းတို့၏ကိုယ်ရေးကိုယ်တာ ရည်မှန်းချက်များသည်လည်း သဲလွန်စမျှမကျန်

တော့အောင် ပျောက်ကွယ်သွားခဲ့ကြလေ ပြီ။ ထိုခေတ်၏အခြင်းအရာဆို၍လည်း ရာဇဝင်ဆိုင်ရာ အကျိုးသက်ရောက်မှုများမှအပ အခြား ဘာမျှမကျန်တော့ ထို စစ်ပွဲကြီးတွင် ပါဝင်တိုက်ခိုက်ခဲ့ကြသူများသည် မိမိတို့၏အသီးသီးသော ကိုယ်ရေးကိုယ်တာ၊ ရည်မှန်းချက် များအောင်မြင်ရေးအတွက် အပတ်တကုတ် အားထုတ်ခဲ့ ကြ၏။ သို့သော်လည်း လောကနိယာမတရားကြီးသည် ၎င်းတို့ အားလုံး မမျှော်လင့်သော အကျိုးတရားများကို ဖြစ်ပေါ်စေရန်သာ ၎င်းတို့ကို စေခိုင်းခဲ့ပေသည်။ ၎င်းတို့ ပြုသောအမှုမှ မည်သည့်အကျိုးတရားများ ထွက် ပေါ်လာ မည်ဆိုသည့်အချက်ကို နပိုလီယန်လည်း မသိခဲ့၊ အလက် ဇန်းဒရားလည်း မသိခဲ့ချေ။ တကယ် ကိုယ်တိုင်ကိုယ်ကျ ပါဝင်တိုက်ခိုက်သူများ မသိခဲ့ခြင်းကိုကား ဆိုဖွယ်မရှိတော့ ချေ။

၁၈၁၂- ခုနှစ်က ပြင်သစ်စစ်တပ်ကြီး ပျက်စီးခဲ့ရ ခြင်း၏အကြောင်းတရားကို ယခု ကျွန်ုပ်တို့ မျက်ဝါးထင် ထင်တွေ့မြင်နေရလေပြီ။ ထိုအကြောင်းတရားကား အခြား မဟုတ်။ တစ်ဖက်တွင် ပြင်သစ်တို့အနေဖြင့် ဆောင်းရာသီ တိုက်ပွဲစဉ် အတွက် ပြင်ဆင်မှုတစ်စုံတစ်ရာမရှိဘဲ ရုရှားနိုင်ငံ အတွင်းသို့ ထိုးဖောက်ဝင် ရောက်လာခဲ့ခြင်းနှင့် အခြားတစ် ဖက်တွင် ရုရှားတို့က ရန်သူကို တူးတူးခါးခါး မုန်းတီးသော စိတ်ဓာတ်ဖြင့် မြို့ရွာများကို မီးရှို့ဖျက်ဆီးခဲ့သောကြောင့် စစ်ပွဲ၏အသွင်လက္ခဏာ ပြောင်းလဲလာခဲ့ခြင်းတည်းဟူ သော အကြောင်းတရား ကြီး ဖြစ်လေသည်။ ဤအချက်ကို မည်သူမျှငြင်းမည် မဟုတ်ချေ။ ရုရှားစစ်တပ် ကြီးကဲ့သို့ စစ်သည်လေးသိန်းမျှသာရှိ၍ ကျွမ်းကျင်ခြင်းမရှိသော တပ်မှူးများ ကွပ်ကဲသည့် ဖရိုဖရဲစစ်တပ်ကြီး တစ်တပ်အဖို့ စစ်သည်ရှစ်သိန်းရှိ၍ ကမ္ဘာတွင် အတော်ဆုံးသော စစ်ဘုရင် တစ်ဦးကွပ်ကဲသည့် ကမ္ဘာတွင် အကောင်းဆုံးသော စစ် ဟပ်ကြီးတစ်တပ်ကို ချေမှုန်းရန်မှာ ထိုနည်းလမ်းမှလွဲ၍ အခြားနည်းလမ်း လည်း မရှိတော့ချေ။ သို့သော်လည်း (ယခု ရှင်းရှင်းကြီးမြင်နေရသော) ထိုနည်း

လမ်းကို ထိုစဉ် က မည်သူမျှကြိုတင်သိမြင်ခြင်း မရှိခဲ့ကြချေ။ ထိုနည်း လမ်းကို မည်သူမျှ ကြိုတင်သိမြင်ခြင်း မရှိခဲ့ရုံမျှမက ရုရှားတို့ဘက်ကဆိုလျှင် ရုရှားနိုင်ငံကြီးကို ကယ်တင်နိုင် မည့် (နပိုလီယန်အား စစ်ကျုံအောင် မြူရေးတည်းဟူသော) ထိုတစ်ခုတည်းသောနည်းလမ်းကို အစွမ်းကုန် တားဆီးခဲ့ ကြလေသည်။ ပြင်သစ်တို့ဘက်ကဆိုလျှင်လည်း (နပို လီယန်၌ အတွေ့အကြုံရှိ၍ စစ်ဆင်စစ်တက်အရာတွင် ( ပါရမီထူးချွန်ခြင်း ရှိသည်ဆိုစေ) ဆောင်းအမီ မော်စကို မြို့သို့ အရောက်ချီတက်ရေးကိုသာ အစွမ်းကုန်ကြိုးစားခဲ့ လေသည် (ဝါ) မုချဆတ်ဆတ် ပျက်စီးခြင်းသို့ ဆိုက်ရောက် စေမည့်နည်းလမ်းကိုသာ အစွမ်းကုန်ကြိုးပမ်း လုပ်ဆောင်ခဲ့ လေသည်။

သို့တိုင်အောင် ၁၈၁၂-ခုနှစ် စစ်ပွဲနှင့် စပ်လျဉ်းသည့် ရာဇဝင်ကျမ်းများ၌ကား နပိုလီယန်သည် စစ်တိုးချဲ့ခြင်း ကြောင့် ကြုံတွေ့ရမည့်အန္တရာယ်များကို ကနဦးကပင်လျှင် ကြိုတင်သိမြင်ခဲ့ကြောင်း၊ စစ်ဦးမကျုံစိမ့်သောငှာ ရုရှားတို့ နှင့် ရင်ဆိုင်တိုက်ပွဲများ ဆင်နွှဲရန် ကြိုးစားခဲ့ကြောင်း၊ ၎င်း၏စစ်သူကြီးများကလည်း စမိုးလင့်တွင် စစ်နားရန် အကြံပေးခဲ့ကြကြောင်းဖြင့် ပြင်သစ်ရာဇဝင်ဆရာများက မကြာခဏထုတ်ဖော်ဝါကြွားလေ့ ရှိကြသည်။ ရုရှားတိုက်ပွဲ စဉ်တွင် ကြုံတွေ့ရမည့်ဘေးအန္တရာယ်ကို မူလကတည်းက ကြိုတင်သိမြင်ခဲ့သည်ဟူသောအချက်ကို သက်သေထူရန် အတွက် အလားတူအရေးအသားများကို မကြာခဏ ဖော် ထုတ်ရေးသားလေ့ရှိကြသည်။ ဤနေရာ၌ ရုရှားရာဇဝင် ဆရာများမှာ ပြင်သစ်ရာဇဝင်ဆရာများထက်ပင် "လေလုံး ထွားတတ်ကြပေသေးသည်။ ရုရှားရာဇဝင်ဆရာတို့က ရုရှားတို့သည် တိုက်ပွဲစဉ်အစကတည်းကပင်လျှင် ဝိဋ္ဌိက ဗျူဟာခေါ် ဂဏန်းလက်မသဏ္ဍာန် ခံစစ်စီမံကိန်းကြီးကို ရေးဆွဲခဲ့ကြောင်း၊ ထိုစီမံကိန်းအရ နပိုလီယန်ကို ရုရှား ပြည်တွင်းသို့ စစ်မြူခေါ်လာခဲ့ခြင်းဖြစ်ကြောင်းဖြင့် ရေး သားလေ့ရှိကြသည်။ ထိုစီမံကိန်းကြီးကိုလည်း ဖူးဝဲလ် ရေးဆွဲသည်ဟုလည်းကောင်း၊ ရုရှား

သစ္စာတော်ခံ ပြင်သစ် ဗိုလ်ချုပ်တစ်ဦး ရေးဆွဲသည်ဟုလည်းကောင်း၊ ဗိုလ်ချုပ်ကြီး တိုးလ် ရေးဆွဲသည်ဟုလည်းကောင်း၊ ဘုန်းတော်ကြီးသော ဘုရားကိုယ်တော်တိုင် ရေးဆွဲသည်ဟု လည်းကောင်း၊ အမျိုးမျိုး မိန့်ဆိုကြသည်။ ထိုသို့သော အစီအမံ မျိုးရှိခဲ့ ကြောင်း စကားရိပ်များပါရှိသည့် မှတ်စုများ၊ စီမံကိန်းများ၊ စာချွန်များကို လည်း ဆွဲထုတ်ကိုးကားခြင်း ပြုကြသည်။ သို့သော်လည်း ပြင်သစ်ရာဇဝင်ဆရာ များနှင့် ရုရှားရာဇဝင် ဆရာများအားလုံးသည် အဖြစ်အပျက်များက ထိုအတိုင်း ဖြစ်ပျက်လာခဲ့သောကြောင့် အဖြစ်အပျက်များနှင့် ကိုက်ညီ သောစကားရိပ်များကို ဆွဲထုတ်ကိုးကားလာကြခြင်း ဖြစ် လေသည်။ အကယ်၍သာ အဖြစ်အပျက်များက ထိုအတိုင်း ဖြစ်ပျက်ခဲ့ခြင်းမရှိလျှင် ၎င်းတို့သည်လည်း ထိုစကားရိပ် များကို ဆွဲထုတ်ကိုးကားကြတော့မည်မဟုတ်ဘဲ မေ့ပျောက် ပစ်လိုက်ကြမည်သာ ဖြစ် လေသည်။ လောက၌ တကယ် ဖြစ်လာသော အဖြစ်အပျက်နှင့် ကိုက်ညီသည့် စကားရိပ် များ၊ ခန့်မှန်းချက်များလောက်ကိုသာ အသားယူ ပြောဆို တတ်ကြ၍ အဖြစ်အပျက်နှင့် ကိုက်ညီခြင်းမရှိသော ခန့် မှန်းချက်များ ထင်မြင်ချက်များကို မေ့ ပျောက်ပစ်တတ်ကြ သည်မှာ လူတို့၏ဓမ္မတာသာ မဟုတ်လော။ အဖြစ်အပျက် တစ်ခုသည် မည်သို့မည်ပုံ အဆုံးသတ်မည်ဆိုသည့်ကိစ္စနှင့် စပ်လျဉ်း၍ လူတစ် ကိုယ်လျှင် ထင်ကြေးအမျိုးမျိုးရှိတတ် ကြသည့်အလျောက် နောက်ဆုံး၌ မည်သို့ အဆုံးသတ်သည် ဖြစ်စေ "ဤသို့ဖြစ်မည်ဟု အစကတည်းကပြောခဲ့သည် မဟုတ် လော"ဟု ပြောတတ်ကြသည်သာ မဟုတ်ပါလော။ သို့ဖြင့် ဖြစ်လာသော အဖြစ်အပျက်များနှင့် ကိုက်ညီခြင်း မရှိဘဲ သွက်သွက်လည်အောင်မှားနေသည့် ထင်ကြေးများ ကို လုံးဝမေ့ပျောက်ပစ်လိုက်တတ်ကြသည်သာ မဟုတ် သော။ ထို အထဲမှ ကြက်ကန်းဆန်အိုးတိုးသည့်နှယ် အမှန် နှင့်တိုက်ဆိုင်သွားသော ထင်ကြေးတစ်ခုတလေကိုသာ ဆောက်ပြကာ "အစက ငါမပြောလား" ဟု ကြွားဝါ တတ် ကြသည်သာ မဟုတ်ပေ။

နပိုလီယန်သည် စစ်တိုးချဲ့ခြင်းကြောင့် ကြုံတွေ့ ရမည့်အန္တရာယ်ကို ပက တူးကပင် သိရှိခဲ့သည် ဟူသော ပြင်သစ်ရာဇဝင်ဆရာတို့၏) ထင်ကြေးနှင့် ရုရှား တို့သည် မူလကပင် နပိုလီယန်ကို စစ်ကျွံစေရန် စစ်မြူခဲ့သည် ဟူသော (ရုရှား ရာဇဝင်ဆရာတို့၏) ထင်ကြေးများသည် ငါ၌ အဆိုပါထင်ကြေးမျိုးသာ ဖြစ်လေ သည်။ အဖြစ် ညက်က ထိုအတိုင်းဖြစ်လာ၍ အဖြစ်အပျက်နှင့် ကိုက် ခံအောင် နောင်ကျမှ ခဲခဲကတ်ကတ်ရှာ ဖွေလာရသည့် “

ထင်ကြေးမျိုးသာ ဖြစ်လေသည် (ဝါ) ကြက်ကန်းဆန်အိုး တိုးသည့်နှယ် မတော်တဆ တိုက်ဆိုင်သွားခြင်းမျိုးကို နဂိုကတည်းက ကြိုတင်စီမံကိန်းချထား၍ ဖြစ်လာသည့် နှယ် ထင်ရအောင် ကြံဖန်ပြောသည့် ကွားလုံးမျိုးသာ ဖြစ်လေ သည်။ ရာဇဝင်ဆရာများသည် နပိုလီယန်နှင့် ၎င်း၏စစ်သူကြီးများအား ဤမျှ တော်သော စစ်ပါရဂူ ကြီးများဖြစ်အောင်၊ ရုရှားတပ်မှူးများအား ဤမျှတော်သော စစ်မှူးကြီးများဖြစ်အောင် သက်သေပြနိုင်ဖို့အတွက် ပင်ပင် ပန်းပန်းကြံစည် အားထုတ်ကြရရှာပေလိမ့်မည်။ အမှန်၌ ၎င်းတို့ပြောသည့်အတိုင်း လားလားမျှ မဟုတ်ချေ။ အချက် အလက်များသည် ၎င်းတို့၏ထင်ကြေးများ၊ အဆိုအမိန့်များ နှင့်လုံးလုံးလျားလျားဆန့်ကျင်လျက် ရှိပေသည်။ တကယ်၌ ကား ရုရှားတို့သည် န ပိုလီယန်အား ရုရှားနိုင်ငံတွင်းသို့ ' စစ်ကျွံလာစေရန် စစ်မြူခြင်းမပြုခဲ့ရုံမျှသာမက ရှေ့သို့ ဆက်လက်ခြင်းမပြုနိုင်ရန် အစွမ်းကုန်ဆီးဆို ဟန့်တားခဲ့ ကြသည်သာ ဖြစ် လေသည်။ နပိုလီယန်သည်လည်း စစ် တိုးချဲ့ခြင်းကြောင့် ပေါ်ပေါက်လာမည့် အန္တရာယ်ကို ကြို တင်သိမြင်ခြင်း မရှိခဲ့ရုံမျှမက ရှေ့သို့ ခြေတစ်လှမ်းလှမ်း တိုင်း ဧရာမ မဟာအောင်ပွဲကြီးတစ်ရပ်အဖြစ် ယူဆခဲ့သည် သာ ဖြစ်လေသည်။ ယခင် တိုက်ဝံစဥ်များတွင်ကဲ့သို့ ရင် ဆိုင်တိုက်ပွဲ ဆင်နွှဲခြင်းမပြုဘဲ တိုက်ပွဲကို ရှောင် ကွင်းကာ ရှေ့သို့ အခုအခံမရှိ ချီတက်နိုင်ရေးကို ကြိုးပမ်းခဲ့သည်သာ ဖြစ်လေ သည်။

စစ်ပွဲအစ၌ ရုရှားတပ်များသည် အကွဲကွဲ တပ်စွဲ လျက်ရှိကြ၏။ ထိုစဉ်က ရုရှားတို့၏ရည်ရွယ်ချက်မှာ ပြန့်ကျဲလျက်ရှိသောတပ်များကို တစ်နေရာတည်း တစ်ချက် တည်းတွင် စုစည်းရန် ဖြစ်၏။ သို့ရာတွင် ရုရှားတို့သည် စစ်ဆုတ်၍ ရန်သူစစ်ကျုံလာအောင် စစ်မြူ သည့်ပရိယာယ် ကို သုံးလိုသည်ဆိုလျှင် တကွဲတပြားစီဖြစ်နေသောတပ် များကို အဘယ်ကြောင့် တစ်နေရာတည်း၌ စုစည်းနေရဦး မည်နည်း။ စစ်မြူလိုလျှင် တကွဲတပြားရှိပြီးသား တပ်များ ကို စုစည်းစရာ လိုသေးသလော။ ရန်သူကိုစစ်အောင် မြူ၍ ဝိုင်းဝန်းညှပ်ပိတ်တိုက်လို သော စစ်တပ် တစ်တပ် သည် စုစည်းပြီးသားတပ်များကိုပင် ဖြန့်ကျင်း နေရာယူ ထားစေရဦးမည် မဟုတ်လော။ ထို့ကြောင့် အကယ်၍သာ (ရုရှားရာဇဝင်ဆရာတို့ ဆိုမိန့်သကဲ့သို့) ခွာစစ်ပြု၍ စစ်မြူ  လိုလျှင် တပ်များကိုစုစည်းရန် အကြောင်းမရှိ ချေ။ ဤသို့ စုစည်းခြင်းဖြင့်လည်း အကျိုးများဖွယ် မရှိချေ။ ထိုမျှမက ရုရှားဘုရင် မင်းမြတ်ကိုယ်တော်တိုင် တပ်မတော်များနှင့် အတူလိုက်ပါလာကာ ခွာစစ်မပြုရန် မိန့်ကြားတော်မူခဲ့ သည် မဟုတ်လော။ ရုရှားမြေ တစ်လက်မမျှ ရန်သူ့လက် ကို အကျမခံဘဲ ကျားကုတ်ကျားခဲ ကာကွယ်ထိန်းသိမ်း ထားရန် မိန့်ကြားတော်မူခဲ့ သည် မဟုတ်လော။ ဖူးဝဲလ်၏ အစီအမံဖြင့် ဒရစ်ဆာမြစ်ကမ်းနဖူးတွင် တပ်ခိုင် တပ်လုံ တည်စေ၍ စုစည်းခုခံရန် ပြင်ဆင်စေခဲ့သည် မဟုတ် လော။ ဤသည်ကို ထောက်လျှင် ရုရှားတို့သည် ဒရစ်ဆာ မြစ်ကမ်းမှ နောက်သို့ဆုတ်ခွာခြင်းမပြုရန် ပိုင်းဖြတ်ထား သည်မှာ မထင်ရှားပါသလော။ ခြေလှမ်းတစ်လှမ်း ဆုတ် ခွာလာရ တိုင်း ဘုန်းတော်ကြီးသောဘုရားသည် တပ်ချုပ်၊ တပ်မှူး၊ စစ်ဦးစစ်ကဲတို့ကို ပြစ် တင်ကြိမ်းမောင်းတော်မူ သည် မဟုတ်လော။ မော်စကိုမြို့ကို စွန့်ခွာဖို့ ဝေးစွ၊ ရန်သူတို့အား စမိုးလင့်နယ်ထဲသို့ ဝင်ရောက်ခွင့်ပေးခဲ့ခြင်း ကိုပင် နှလုံးမကြည်ရှိ တော်မူခဲ့သည် မဟုတ်လော။ ရုရှား တပ်များကို တစ်ပေါင်းတည်းဖြစ်စေပြီးနောက် စမိုးလင့် မြို့ရိုးဘေးတွင် ရင်ဆိုင်တိုက်ပွဲဆင်နွှဲခြင်းမပြုဘဲ စွန့်ခွာ လာခဲ့ရမည် လောဟု အမျက်တော်ရှိသည် မဟုတ်လော။

တကယ်၌ကား ရုရှားရွှေနန်းရှင်နှင့် တကွ ရုရှား တပ်မှူးများ ရုရှားပြည်သူများအားလုံးသည် ရုရှားတို့ ဆုတ် ခွာလာခဲ့ရခြင်းအတွက် ဒေါသအမျက်ခြောင်းခြောင်း ထွက် လျက်ရှိသည် မဟုတ်လော။

ဤအချက်တို့ကိုထောက်လျှင် ရုရှားတို့သည် မူလ ကတည်းကပင်လျှင် စီမံကိန်းအရ ရန်သူစစ်ကျုံ့အောင် စစ်မြူ၍ဆုတ်ခွာပေးခဲ့ခြင်း ဖြစ်သည်ဆိုသော ရုရှားရာဇဝင် ဆရာတို့၏အဆိုအမိန့်သည် အရူးစကားမျှသာဖြစ်ကြောင်း ထင်ရှားလှပေသည်။

တစ်ဖန် နပိုလီယန်သည် စစ်တိုးချဲ့ခြင်းကြောင့် ပေါ်ပေါက်လာမည့် အန္တရာယ်တို့ကို ကနဦးကပင် ကြိုတင် သိခဲ့ကြောင်း၊ စစ်ဦးမကျုံ့စိမ့်သောငှာ ရုရှားတို့နှင့် ရင်ဆိုင် တိုက်ပွဲများဖြစ်ပွားရန် ကြိုးစားခဲ့ကြောင်းစသည်ဖြင့် ပြော ဆိုကြသည့် ပြင်သစ်ရာဇဝင်ဆရာများ၏ အဆိုအမိန့်သည် လည်း အနှမ်းစကားမျှသာ ဖြစ်ချေသည်။ တကယ်၌ နပို လီယန်သည် ရုရှားတပ်များ ဆီးဆို့ထားသော စစ်ကြောင်းကို အလယ်မှဖောက်ဝင်ခဲ့ကာ ရှေ့သို့ အလောတကြီးချီတက် ခဲ့ပြီးနောက် စစ်ကြောင်းကို တိုးချဲ့ခဲ့သည် မဟုတ်လော။ စစ်ချီလမ်းတစ်လျှောက်၌ ရုရှားတပ်များနှင့် ရင်ဆိုင်တိုက်ပွဲ များဆင်နွှဲရန် အခွင့်အရေးရပါလျက် ထိုအခွင့်အရေးတို့ကို လက်လွှတ်၍ မော်စကိုမြို့သို့ အခုအခံမရှိ၊ အတားအဆီး မရှိ အဆောတလျင်ရောက်ရေးကိုသာ အာရုံစောခဲ့သည် မဟုတ်လော။ နပိုလီယန် သြဂုတ်လထဲ၌ စမိုးလင့်နယ်ကို သိမ်းပိုက်လိုက်ပြီးနောက် နောက်ထပ်ထိုးစစ်ဆင်နွှဲရေးကို သာ အမြဲတစေကြံစည် စိတ်ကူးခဲ့သည် မဟုတ်လော။ ထိုထိုးစစ်ကြီးသည် မိမိ၏ပျက်စီးဆုံးရှုံးခြင်းကို ဖြစ်စေ လိမ့်မည်ဟု မသိခဲ့ခြင်းကြောင့်သာ ဤသို့ စိတ်ကူးခဲ့ခြင်း မဟုတ်ပါလော။ ထိုထိုးစစ်သည် နပိုလီယန်ပျက်စီးခြင်း၏

အကြောင်းတရားဖြစ်ကြောင်းကို ယခု ကျွန်ုပ်တို့နှောင်း လူများကျမှသာ သိကြရခြင်းမဟုတ်ပါလော။

စင်စစ်၌ နပိုလီယန်သည် မော်စကိုမြို့ကို ချီတက် သိမ်းပိုက်ခြင်းကြောင့် မိမိကြုံတွေ့ရမည့်အန္တရာယ်ကို သိ မြင်ခြင်းမရှိခဲ့ချေ။ အလက်ဇန်းဒရားဘုရင်နှင့် ရုရှားတပ်မှူး များသည်လည်း နပိုလီယန်ကို စစ်မြူရန် စိတ်ကူးမထည့် မိခဲ့ကြချေ။ ၎င်းတို့အားလုံးသည် ရာဇဝင်ဆရာများပြော သကဲ့သို့ ကြိုတင်သိမြင်ခဲ့ခြင်း မရှိကြောင်းကို ဖြစ်ရပ်များ က ထင်ရှားစွာသက်သေပြလျက် ရှိပေသည်။ နပိုလီယန် ရုရှားနိုင်ငံတွင်းသို့ စစ်ကျွံလာခဲ့ခြင်းမှာ မည်သည့်ရုရှား တပ်မှူး၏စီမံကိန်းကြောင့်မျှ မဟုတ်ချေ။ ထိုသို့ စစ်မြူ၍ ရကောင်းသည်ဟုလည်း မည်သည့်ရုရှားတပ်မှူးမျှ မသိခဲ့ ကြချေ။ သို့ဖြစ်လျှင် မည်သည့်စီမံကိန်း မည်သည့် အကြောင်းတရားကြောင့် နပိုလီယန် စစ်ကျွံလာခဲ့သနည်း။ နပိုလီယန် စစ်ကျွံလာခဲ့ခြင်းကား အခြားကြောင့် မဟုတ်။ ရုရှားဗိုလ်ချုပ်များသည် ရုရှားနိုင်ငံကြီးကို ကယ်တင်ရန် တစ်ခုတည်းသော နည်းလမ်းဖြစ်သည့် နပိုလီယန်အား စစ်မြူ၍ စစ်ဦးကျွံစေသည့် ပရိယာယ်ကို တစ်ဆိတ်စာ ကလေးမျှ စိတ်မကူးမိခဲ့ကြဘဲ အချင်းချင်း အကောက်ကြံ လျက် ရှိကြခြင်း၊ “ချောက်တွန်းလျက်ရှိကြခြင်း၊ တစ်ဦးကို တစ်ဦး မနာလိုဝန်တိုဖြစ်လျက် ရှိကြခြင်း၊ မာန်စောင်တက် ကာ တစ်ဦးနှင့် တစ်ဦး ပညာစွမ်းပြိုင်လျက်ရှိကြခြင်း စသည်တို့ဖြင့် အချိန်ကုန်လျက် ရှိကြခြင်းကြောင့် နပို လီယန်သည် ၎င်း၏အလိုအလျောက် စစ်ဦးကျွံလာခဲ့ခြင်း  သာဖြစ်လေသည်။ ထိုအရာအားလုံးသည် မည်သည့်စစ် ပါရဂူမည်သော စစ်ဗိုလ်ချုပ်၊ မည်သည့် စစ်သူကြီး၏ စီမံကိန်းကြောင့်မျှ မဟုတ်ဘဲ ရှောင်တခင်ဖြစ်လာကြခြင်း သာ ဖြစ်လေသည်။ တိုက်ပွဲစဉ်အစ၌ ရုရှားတပ်များသည် တကွဲတပြားပြန့်ကျဲလျက်ရှိခဲ့ကြ၏။ ရုရှားတို့သည် ရန်သူ ကို ခုခံတိုက်ခိုက်ရန်၊ ရန်သူ၏ချီတက်မှုကို ဟန့်တား

ပိတ်ဆို့ထားရန် ရည်ရွယ်ချက်ဖြင့် တပ်များကို တစ်စုတည်း ပေါင်းစည်းရန် ကြိုးစားခဲ့ကြသည်။ ဤသို့ စုစည်းရန် ကြိုးစားရင်း တစ်ဖက်မှလည်း မိမိထက် သာလွန် အင်အား ကြီးမားသောရန်သူနှင့် ရင်ဆိုင်တိုက်ပွဲမဖြစ်အောင် ရှောင် ကွင်း ခဲ့ရသည်။ တပ်မတော် စစ်ကြောင်းနှစ်ကြောင်းသည် တွေ့ဆုံရာအမှတ်၌ ထောင့်ကျဉ်းသဏ္ဍာန်ဖြစ်အောင် မျဉ်း ပြိုင်ကျလုနီးပါး ဆုတ်ခွာလာခဲ့ကြရသည်။ ဤသို့စုစည်း ရန် ကြိုးပမ်းနေခြင်းကြောင့်ပင် စမိုးလင့်နယ်သည် ရန်သူ လက်သို့ ကျခဲ့ရခြင်း ဖြစ်လေသည်။ ရုရှားစစ်ကြောင်း နှစ် ကြောင်းသည် တွေ့ဆုံရာအမှတ် တစ်ခုကို ဦးတည်ထားကာ ထောင့်ကျဉ်းသဏ္ဍာန်ဖြစ်အောင် ဆုတ်ခွာခဲ့ရခြင်းမှာ အကြောင်းနှစ်ချက် ရှိသည်။ ပထမအကြောင်းမှာ ပြင်သစ် တို့က ရုရှားစစ်ကြောင်း နှစ်ကြောင်းကြားထဲသို့ သပ်ရိုက်၍ သွင်းသည့်နယ် အတင်းထိုးဖောက် ဝင် ရောက်လာခြင်း ကြောင့် ဖြစ်သည်။ ဒုတိယအကြောင်းကား တပ်မတော်ထဲ တွင် လူကြိုက်နည်းသောနိုင်ငံခြားသား စစ်သေနာပတိ ချုပ် ဗိုလ်ချုပ်ဘာကလေဒီတို လီကို မင်းသားကြီးဘာဂရေး ရှင်းက မကျေနပ်သောကြောင့် ဖြစ်သည်။ ဖြစ်ပုံကား ဤသို့တည်း။ ရုရှားနိုင်ငံအတွင်းဘက်သို့ ပြန်ဆုတ်လာ ခဲ့သော စစ်ကြောင်း နှစ် ကြောင်းအနက် တစ်ကြောင်းကို ဗိုလ်ချုပ်ကြီးဘာကလေက ကွပ်ကဲ၍ အခြားတစ် ကြောင်း ကို မင်းသားကြီးဘာဂရေးရှင်းက ကွပ်ကဲ၏။ တပ်ချင်း ပေါင်းမိလျှင် မင်းသားကြီးဘာဂရေးရှင်းသည် ဗိုလ်ချုပ် ကြီးဘာကလေ၏ လက်အောက်တွင် အမှုထမ်းရတော့ မည် ဖြစ်သည်။ ဤတွင် ဒုတိယစစ်ကြောင်းကို ကွပ်ကဲ ဆုတ်ခွာ လာသည့် မင်းသားကြီးဘာဂရေးရှင်းသည် တပ် ချင်းပေါင်းမိရေးကိစ္စနှင့် ဗိုလ်ချုပ် ဘာကလေ၏ ကွပ်ကဲမှု အောက်တွင် အမှုထမ်းရေးကိစ္စကို တတ်နိုင်သမျှ အချိန် ဆွဲထားလိုသည်။ ဤရည်ရွယ်ချက်ဖြင့် မင်းသားကြီး ဘာဂရေးရှင်းသည် တစ်ဖက် မှ ဆုတ်ခွာလျက်ရှိသော ဗိုလ်ချုပ်ဘာကလေ၏တပ်များနှင့် မျဉ်းပြိုင်ကျလုနီးပါး ( ဆုတ်လာခဲ့သည်တွင် စစ်ကြောင်းနှစ်ကြောင်း၏ တွေ့ဆုံ ရာ အမှတ်သည် ဝေး

သည်ထက် ဝေးလာကာ၊ ထောင့်သည် လည်း ကျဉ်းသည်ထက် ကျဉ်းလာခဲ့ခြင်း ဖြစ်လေသည်။ ရုရှားစစ်ဦးစီးဌာနချုပ်၏ ရည်ရွယ်ချက်မှာ ဗိုလ်ချုပ်ဘာ ကလေ၏ စစ်ကြောင်းနှင့် မင်းသားကြီးဘာဂရေးရှင်း၏ စစ်ကြောင်းနှစ်ခုကို အမြန်ဆုံး ပေါင်းစည်းရေး ဖြစ်၏။ သို့ရာတွင် မင်းသားကြီးဘာဂရေးရှင်းသည် တပ်ချင်း ပေါင်းရေးကိစ္စကို နှောင့်နှေးအောင်လုပ်လျက် ရှိလေသည်။ ၎င်း၏အကြောင်းပြ ချက်ကား စစ်ဦးစီးဌာနချုပ်၏ အမိန့် အတိုင်း ဆုတ်ရမည်ဆိုလျှင် မိမိ၏စစ်ကြောင်းသည် ရန်သူ တိုက်ခိုက်မှု အန္တရာယ်ကို ဟင်းလင်းဖွင့်ပေးထား သကဲ့သို့ ရှိနေမည်ဖြစ်ကြောင်း၊ မိမိအဖို့ လက်ဝဲဘက် ခပ်ကျကျ တောင်ပိုင်းမှ ဆုတ်ခွာမှသာလျှင် အကောင်းဆုံးဖြစ်မည် ဖြစ်ကြောင်း၊ ဤသို့ဆုတ်ခွာခြင်း ကြောင့် ရန်သူ၏ စစ် ကြောင်းနံပါးနှင့် နောက်ဖျားကို အနှောင့်အယှက်ပေးနိုင် မည် ဖြစ်ကြောင်း၊ မိမိအဖို့လည်း ယူကရိန်းနယ်ဘက်မှ တပ်သားသစ်များ စုဆောင်းနိုင်မည် ဖြစ်ကြောင်းဖြင့် အကြောင်းပြ၏။ အမှန်၌ကား မင်းသားကြီးဘာ ဂရေးရှင်း သည် မိမိထက် လုပ်သက်နု၍ နိုင်ငံခြားသားတစ်ဦးလည်း ဖြစ်သော ဗိုလ်ချုပ်ကြီးဘာကလေ၏အောက်တွင် အမှု မထမ်းလိုသောကြောင့် ဤအစီအမံ ကို ပြုလုပ်ခြင်း ဖြစ် လေသည်။

သို့ဖြစ်ရကား ရုရှားစစ်ကြောင်းနှစ်ကြောင်း ထောင့် ခန်ဆုတ်ခွာမိလျက်သား ဖြစ်နေရခြင်းမှာ မည် သည့်စီမံကိန်းကြောင့်မျှမဟုတ်ဘဲ ဗိုလ်ချုပ်ဘာကလေနှင့် မင်းသားကြီးဘာဂရေးရှင်းတို့ တစ်ဦးကို တစ်ဦး မကျေ မလည်ဖြစ်ရာမှ ရှောင်တခင်ဖြစ်လာခြင်းသာ ဖြစ်လေ သည်။ ဤတွင် ပြင်သစ်တပ်များကို ဝိုင်းမိ ခြင်းမှာလည်း ရှေ့လောတကြီးချီလာသော ပြင်သစ်တပ်များက ဤစစ် ကြောင်း နှစ်ကြောင်းကြားထဲသို့ ဝင်လာသဖြင့် မတော်တဆ ဝိုင်းမိခြင်းသာ ဖြစ်လေသည်။ မည်သည့်စီမံကိန်းကြောင့် မျှ မဟုတ်ချေ။ ဤသည်ကို ဝိဋ္ဌိကဗျူဟာခေါ် ဂဏန်း လက်မသဏ္ဌာန်ညှပ်၍ စစ်မြူသည့်စီမံကိန်းကြောင့် ဖြစ် သည်ဟု ရုရှားရာဇဝင်

ဆရာတို့က ပြောကြခြင်းမှာ ရုရှား ဗိုလ်ချုပ်တို့တွင် မရှိသောအရည်အချင်းကို သိဒ္ဓိတင်ပြော ခြင်းမျှသာ ဖြစ်လေသည်။

ဘုန်းတော်ကြီးသောဘုရားသည် တပ်တော်များ စိတ်ဓာတ်တက်ကြွစေရန် တပ်တော်ကြီးနှင့်အတူ လိုက်ပါ လာခဲ့ခြင်းဖြစ်၏။ သို့သော်လည်း ဘုရင်၏လုံခြုံရေးကို ကြပ်မတ်ရခြင်း၊ ၎င်းကိုယ်နှိုက်က စစ်ဆင်စစ်တက်ကိစ္စ များတွင် မကျွမ်းကျင်ခြင်း၊ ၎င်း၏ပတ်ဝန်းကျင်နှင့် အကြံပေးပုဂ္ဂိုလ်တွေ မှုလိုပေါ သလောက် စီမံကိန်းများ တောင်ပုံရာပုံများပြားခြင်းစသည့် အကြောင်းများကြောင့် ဗိုလ်ချုပ်ကြီးဘာကလေဦးစီးသည့် ပထမစစ်ကြောင်းသည် လည်း အလိုလိုအားကုန်ကာ ဆုတ်ခွာလာခဲ့လေသည်။

ရုရှားတို့၏အကြံမှာ ဒရစ်ဆာမြစ်ကမ်းနဖူးတွင် တပ်ကြီး တပ်ခိုင်တည်၍ ခုခံရန် ဖြစ်၏။ ထို့ကြောင့် ခံစစ်စီမံကိန်းကြီးတစ်ခုကို ဗိုလ်ချုပ်ဖူးဝဲလ်အား ရေးဆွဲစေ၏။ သို့ရာတွင် စစ်သေနာပတိချုပ်ရာထူးကို ချိန်လျက် ရှိသည့် ဗိုလ်ချုပ်ကြီး ပေါ်လတ်ဆ(၎င်းမှာ အီတလီလူမျိုး ဖြစ်သည်။) သည် ဘုန်းတော်ကြီးသော ဘုရား၏ ကိုးစား ယုံကြည်မှုကို ရအောင်ယူပြီးနောက် ဖူးဝဲလ်၏စီမံကိန်း ညံ့ဖျင်းပုံကို အခွင့်သာတိုင်းလျှောက်၏။ ဤတွင် ဘုန်း တော်ကြီးသောဘုရားသည် ဒရစ်ဆာမြစ်ကမ်းနဖူးမှ တပ် ခိုင်တပ်လုံတည်၍ခံရန် ဖူးဝဲလ်၏ အစီအမံကို ပယ်ချလိုက် ကာ ဗိုလ်ချုပ်ကြီးဘာကလေကို စစ်သေနာပတိချုပ် ခန့် အပ်လိုက်သည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီးဘာကလေမှာ လည်း ဘုန်းတော်ကြီးသောဘုရား၏ ကိုးစားယုံကြည်မှု အပြည့်အဝမရရှိသဖြင့် မိမိသဘောအတိုင်း အာဏာကုန် သုံး၍ လွတ်လပ်စွာဆောင်ရွက်ခြင်း မပြုနိုင်ပြန်ချေ။ ဤသို့ဖြင့် ရုရှားတပ်များသည် အကွဲကွဲဖြစ်လျက်ရှိကာ ဦးစီးကွပ်ကဲမှု၌လည်း တစ်မိန့်တည်း တစ်သံတည်းမရှိတော့ချေ။ ယင်းသို့ အုပ်စုကွဲလျက် ရှိခြင်း၊ ရာထူးလုလျက် ရှိခြင်း၊ နိုင်ငံခြားသား

ကို စစ်သေနာပတိချုပ်အရာနှင်းသဖြင့် မကျေမနပ်ဖြစ်လျက်ရှိခြင်း စသည်တို့ကြောင့် တပ်မတော် ထဲတွင် တွေဝေဆုတ်ဆိုင်းမှု၊ တိုက်ပွဲကို ရှောင်ကွင်းမှု (အကယ်၍ တပ်မတော်များလည်း ပေါင်းမိပြီးသားဖြစ်၍ စစ်သေနာပတိချုပ် အရာ၌လည်း ဗိုလ်ချုပ်ကြီးဘာကလေ မဟုတ်ဘဲ အခြားတစ်ဦးဖြစ်ခဲ့လျှင် ရင်ဆိုင်တိုက်ပွဲများ ဖြစ်ပွားမည်ကေန် ဖြစ်သည်။) စသည်တို့အပြင် နိုင်ငံခြား . သားဗိုလ်ချုပ်များကို ဒေါသအမျက်ထွက်ခြင်း၊ ဇာတိ  သွေး၊ ဇာတိမာန်ထက်သန်ခြင်းစသည့် အခြင်းအရာများ လည်း ပေါ်ပေါက်လျက်ရှိလေသည်။

နောက်ဆုံး၌ အလက်ဇန်းဒရားဘုရင်သည် တပ် မတော်နှင့် အတူလိုက်ပါခြင်း မပြုတော့ချေ။ အလက်ဇန်း ဒရားဘုရင်သည် နိုင်ငံအဝှမ်းသို့ လှည့်လည်ကာ မြို့နေ ပြည်သူများနှင့် ရုရှားပြည်သူတစ်ရပ်လုံးအား မျိုးချစ် စစ်ပွဲကြီးအတွက် အဆင်သင့်ဖြစ်နေစေရန် လှည့်လည်နိုး ဆော်ခြင်းပြုရန် ဆုံးဖြတ်လိုက်လေသည်။ ဤဆုံးဖြတ်ချက် ကား တပ်မတော်မှ အလက်ဇန်းဒရားဘုရင် ပြန်လည်ထွက် ခွာသွားရန် တစ်ခုတည်းနှင့် အကောင်းဆုံးသောအကြောင်း ပြချက် ဖြစ်လေသည်။ အလက်ဇန်းဒရားဘုရင် မော်စကို မြို့သို့ကြွရောက်၍ စစ်အောင်နိုင်ရေးမိန့်ခွန်း မြွက်ကြား ပြီးသည့်နောက်၌ကား ရုရှားတပ်မတော်၏ အင်အားမှာ သုံးဆမျှ တိုး၍လာခဲ့လေသည်။

အလက်ဇန်းဒရားဘုရင်သည် တပ်မတော်မှ ပြန် လည် ထွက်ခွာသွားတော်မူရာ၌ ပြည်သူများအား မိမိ ကိုယ်တော်တိုင် ဇာတိမာန်၊ ဇာတိသွေး တက်ကြွလာအောင် လှုံ့ဆော်တော်မူရန်ဟု အကြောင်းပြခဲ့သည်။ တကယ့် အကြောင်းရင်းမှန်ကား ဤသို့ မဟုတ်ချေ။ တကယ့် အကြောင်းရင်းကား တပ်မတော်ကို ကွပ်ကဲရာ၌ စစ်သေနာ ပတိချုပ်အား လွတ်လွတ်လပ်လပ် တစ်သံတည်း တစ်မိန့် တည်းဖြင့် ကွပ်ကဲနိုင်ရန် ဖြစ်လေသည်။ ဤသို့လွတ်လပ် စွာ ကွပ်ကဲခြင်းဖြင့်လည်း တပ်မတော်သည် ပြတ်သားသော ခြေလှမ်းများကို လုပ်ဆောင်နိုင်လိမ့်မည်ဟု

ဘုန်းတော်ကြီး သောဘုရား ယူဆတော်မူသည်။ သို့ရာတွင် ဘုန်းတော် ကြီးသော ဘုရား ပြန်လည် ထွက်ခွာသွားတော်မူပြီးသည့် နောက်၌ တပ်မတော်ကို ဦးစီး ကွပ်ကဲမှုမှာ ပိုမိုလျော့ကျ ကာ ပိုမိုအားနည်းလာခဲ့လေပြီ။ ဗိုလ်ချုပ်ကြီးဘင်နစ် ဆန်၊ အိမ်ရှေ့ဥပရာဇာကိုယ်တော်ကြီး ဇာရီဗစ်ချ်နှင့်တကွ တပ် ရေးချုပ်များမှာ ဗိုလ်ချုပ်ကြီးဘာကလေကို စောင့်ကြပ် အကဲခတ်ရန်နှင့် အားပေးကူညီရန် ကျန်ရစ်ခဲ့သေးသည် မဟုတ်ပါလော။ ဗိုလ်ချုပ်ကြီးဘာကလေသည် ဤသို့ မိမိ၏အရိပ်အခြည် ကို စောင့်ကြပ်ကြည့်ရှုလျက်ရှိသော “ဘုရင်ကေရာဇ်၏ မျက်စိ များ’ ရှေ့တွင် ခါတိုင်းထက်ပင် အနေကျုံ့လျက်ရှိကာ အစစအရာရာကို သတိကြီး စွာထား လျက် မည်သည့်ကိစ္စကိုမျှ ပြတ်ပြတ်သားသား ဆောင်ရွက်  ခြင်းမပြုဝံ့ တော့ဘဲ တိုက်ပွဲများကို ရှောင်ကွင်းလျက်ရှိလေ သည်။

ဤသို့ဖြင့် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးဘာ ကလေသည် လူတိုင်းကို မယုံသင်္ကာဖြစ်လျက်ရှိ၏။ အိမ်ရှေ့ဥပရာဇာကိုယ်တော်ကြီး ဇာရီဗစ်ချ်သည် ဗိုလ်ချုပ် ကြီးဘာကလေ သစ္စာဖောက်ပြီလောဟု သံသယဖြစ်ကာ တိုက်ပွဲများ ဆင်နွှဲရန် အတင်းအကြပ် တောင်းဆိုလျက် ရှိ၏။ လူဗိုမာစကီ၊ ဘရွန်နစ်စကီ၊ ဝါ လောကီအစရှိသော ဆန့်ကျင်ဘက်ဂိုဏ်းအား ပိုလန်တပ်ရေးချုပ်များကလည်း 'သခွတ်ပင်က မီးတကျီကျီ” ဆိုသကဲ့သို့ စစ်သေနာပတိ ချုပ် ဗိုလ်ချုပ်ကြီးဘာက လေကို အနှောင့်အယှက်ပေးလျက် ရှိကြ၏။ နောက်ဆုံး၌ ဗိုလ်ချုပ်ကြီး ဘာက လေသည် မတတ်သာတော့ဘဲ ပီတာစဘတ်ရွှေနန်းတော်ကြီးသို့ စာ ချွန်များ ပို့ စရာရှိသည်ဟုဆိုကာ ပိုလန်တပ်ရေးချုပ်များကို တစ်ဖက်လှည့်နှင့် ပီတာစဘတ် ရွှေမြို့တော်သို့ စေလွှတ် လိုက်ပြီးနောက် ဗိုလ်ချုပ်ကြီးဘင်နစ်ဆန်၊ အိမ်ရှေ့ ဥပရာဇာ ကိုယ်တော်ကြီး ဇာရီဗစ်ချ်တို့နှင့် ပြောင်ပြောင်တင်းတင်း အတိုက်အခံ ပြုလေတော့သည်။

စမိုးလင့်သို့ရောက်သော် ရုရှားတပ်များသည် စု ပေါင်းမိကြ၏။ ဤသည်ကား ဗိုလ်ချုပ်ကြီးဘာဂရေးရှင်း မနှစ်သက်ဆုံးသော အရာပေတည်း။

ဗိုလ်ချုပ်ကြီးဘာဂရေးရှင်းသည် စစ်သေပနာတိ ချုပ် ဗိုလ်ချုပ်ကြီးဘာကလေနေထိုင်သည့်အိမ်သို့ ကရထား တစ်စီးဖြင့် ရောက်လာခဲ့၏။ ဗိုလ်ချုပ်ကြီးဘာကလေသည် ရွှေစလွယ်နှင့်တကွ စစ်သေနာပတိချုပ်၏ အဆောင် အယောင်များကို ဆင်မြန်းလျက် မိမိထက်လုပ်သက်ရင့် သော်လည်း မိမိ၏လက်အောက် အမှုထမ်းဖြစ်သော ဗိုလ် ချုပ်ကြီးဘာဂရေးရှင်းကို လက်ခံတွေ့ဆုံခြင်း ပြုလေသည်။

ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်းသည် ဗိုလ်ချုပ်ကြီး ဘာကလေထက် "ဝါကြီး"သူဖြစ်၏။ သို့ရာတွင် ဤတစ်ပွဲ၌ကား ဗိုလ်ချုပ်ကြီး ဘာကလေနှင့် စိတ်သဘောထား ကြီးခြင်းအရာတွင်ပါ ယှဉ်ပြိုင်နေရသူတစ်ဦး ဖြစ်သည့် အလျောက် ဗိုလ်ချုပ်ကြီးဘာကလေ၏အမိန့်ကို နာခံခြင်း ပြုရလေသည်။ စိတ်ထဲ၌ကား တနုံ့ဖြစ်လျက်ရှိလေပြီ။ ဗိုလ်ချုပ်ကြီးဘာဂရေးရှင်းသည် ဘုန်းတော်ကြီးသောဘုရား ၏အမိန့်အတိုင်း စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးဘာ  ကလေထံသို့ တိုက်ရိုက်အစီရင်ခံခြင်း ပြုရလေသည်။ ထို့ နောက်၌ကား ဗိုလ်ချုပ်ကြီးဘာဂရေးရှင်းသည် ဘုန်းတော် ကြီးသောဘုရား၏လူယုံတော် စစ်ဝန်ကြီး အာရတ်ချေ ထံသို့ အမှာစာချွန်တစ်စောင် ရေးလိုက်လေသည်။ "ကျွန်ုပ် မှာ အရှင်ကေရာဇ်၏အမိန့်ကို မပယ်သာ၍ အမှုထမ်းနေရ သော်လည်း ဤပုဂ္ဂိုလ်နှင့် (ဗိုလ်ချုပ်ကြီး ဘာကလေကို ဆိုလိုသည်။) အတူတကွ ဆက်လက်အမှုထမ်းရန် မဖြစ် တော့ပြီး ကျွန်ုပ်အား သက်ညှာသောအားဖြင့် အခြားတစ် နေရာသို့ ပြောင်းရွှေ့ခန့်ထားလျှင် သင့်အံ့ထင်ပါသည်။ သာမန်တပ်ရင်းမှူးကလေးအဖြစ် ပြောင်းရွှေ့ခန့်ထားမည် ဆိုလျှင်လည်း ကျွန်ုပ်အဖို့ အပန်းမကြီးပြီ။ သို့ရာတွင် ဤပုဂ္ဂိုလ်၏လက်အောက်၌ကား မည်မျှ

ကြီးမားသော ရာထူးတွင်ခန့်သည်ဖြစ်စေ ကျွန်ုပ် အမှုမထမ်းလိုတော့ပြီ။ စစ်ဦးစီး ဌာနချုပ်၌ ဂျာမန်တို့ ဘုန်းကြီးကြသောကြောင့် ကျွန်ုပ်တို့ ရုရှားတပ်မှူးများ ခေါင်း ပင် မဖော်ရဲကြပြီ။ ကျွန်ုပ်သည် အရှင်ဧကရာဇ်၏အကျိုးနှင့် အဖနိုင်ငံတော် ၏အကျိုးကို ထမ်းရွက်ခဲ့ခြင်းဖြစ်သည်ဟု ယူဆခဲ့သော် လည်း စင်စစ်၌ ဘာက လေကို အလုပ်အကျွေးပြုနေခြင်း သာဖြစ်ကြောင်း ကျွန်ုပ်သိပြီ။ ဤသူ၏လက်အောက်၌ ကား ကျွန်ုပ် ဆက်လက်အမှုမထမ်းတော့ပြီ” ဟု စာတွင် ပါရှိ၏။

" ဗိုလ်ချုပ် ဘာရှန်နစ်စကီ၊ ဗိုလ်ချုပ် ဝန်ဇင်ဂျီရိုဒီ စသည့်လူတစ်သိုက်က လည်း စစ်သေပနာတိချုပ်ကို မကျေ မနပ်ဖြစ်လျက် ရှိကြ၏။ သို့ဖြင့် စစ်သေနာပတိချုပ် နှင့် တပ်မတော်ဗိုလ်ချုပ်များ၏ ဆက်ဆံရေးသည် တင်းမာ လာခဲ့ကာ တပ်မတော်ညီညွတ်ရေးမှာလည်း ပျက်ပြားလာ ခဲ့၏။ ရုရှားတပ်မတော် သည် စမိုးလင့်မကျမီက ပြင်သစ် များနှင့်တိုက်ရန် အသင့်ပြင်ဆင်ထားခဲ့သည်။ ဗိုလ်ချုပ် တစ်ဦးကိုလွှတ်၍ပင် နယ်မြေအနေအထားကို စစ်ဆေး ကြည့်ရှုစေခဲ့ သည်။ ထိုစစ်ဗိုလ်ချုပ်ကား စစ်သေနာပတိချုပ် ဘာကလေကို မလိုလားသည့် ဗိုလ်ချုပ်တစ်ဦးဖြစ်သည့် အလျောက် နယ်မြေအနေအထားကို လေ့လာခြင်းမပြု ဘဲ ၎င်း၏မိတ်ဆွေတပ်မှူးတစ်ဦးထံ သွားရောက်လည်ပတ် ကာ တစ်နေကုန် အချိန်ဖြုန်း၍ ပြန်လာခဲ့ပြီးနောက် ထို နယ်မြေဒေသမှာ မည်သည့်ရှုထောင့်က ကြည့်ကြည့် မိမိ တို့အတွက် သင့်လျော်ခြင်းမရှိကြောင်းဖြင့် မိမိ မမြင်ခဲ့သော စစ်တလင်းကို ရှုတ်ချရေးသား၍ အစီရင်ခံလိုက်လေသည်။

ရုရှား စစ်ဦးစီးဌာနချုပ်၌ ဤသို့ တစ်ယောက်ကို တစ်ယောက် အကောက်ကြံလျက်ရှိချိန်၊ စစ်မျက်နှာရွေး ချယ်ရေးနှင့် စပ်လျဉ်း၍ တစ်ယောက်တစ်ပေါက် ငြင်းခုံ လျက်ရှိချိန်၊ ပြင်သစ်တို့၏အခြေအနေကို ကောင်း စွာမသိ သေးဘဲ ၎င်းတို့ကိုခံတိုက်ရန် စိတ်ကူးလျက်ရှိချိန်၌ ပြင်သစ် စစ်တပ်ကြီး

သည် ဘွားခနဲပေါ်လာကာ နီဗာရွှန်စကီ၏ တပ်မကြီးကို သုတ်သင်ရှင်းလင်းလိုက်ပြီးနောက် စမိုးလင့် မြို့ရိုးသို့ ရောက်လာခဲ့ကြလေသည်။

ရုရှားတပ်များ၏ ထောက်ပံ့ရေးလမ်းကြောင်းများ ကို ကာကွယ်ရန်မှာ စမိုးလင့်တွင် ဖြစ်သလိုခုခံတိုက်ရန်မှ တစ်ပါး အခြားလမ်းမရှိတော့ချေ။ ဤသို့ဖြင့် စမိုးလင့် နယ်တွင် ရုရှားနှင့် ပြင်သစ်တို့ ပထမဆုံးအကြိမ် တိုက်ပွဲ ဖြစ်ပွားခဲ့ကြရာ နှစ်ဖက်စလုံးမှ ထောင်ပေါင်းများစွာ ကျဆုံးခဲ့ကြရလေသည်။

ရုရှားဘုရင် ဧကရာဇ်နှင့် ရုရှားပြည်သူများသည် စမိုးလင့်နယ်ကို ရန်သူလက်သို့ မကျစေလိုကြသော်လည်း ရုရှားတပ်မတော်သည် စမိုးလင့်နယ်ကို စွန့်ခွာခဲ့ရ၏။ သို့ရာတွင် စမိုးလင့်မြို့ဝန်၏လွဲမှားသော ခေါင်းဆောင်မှု ကြောင့် စမိုးလင်းမြို့သူ မြို့သားတို့သည် ၎င်းတို့၏မြို့ ကြီးကို မီးရှို့ဖျက်ဆီးခဲ့ကြသည်။ ဤသို့ဖြင့် ဖရိုဖရဲဖြစ်ကာ ထိန်းမနိုင် သိမ်းမရဖြစ်လျက်ရှိသော စမိုးလင့် မြို့သူ မြို့သားတို့သည် မိမိတို့၏ဆုံးရှုံးခြင်းအတွက် နာကြည်း သောစိတ်၊ ရန်သူကို ခါးခါးသီးသီး မုန်းတီးသောစိတ် တို့ ဖြင့် မော်စကိုသို့ ထွက်ပြေးလာခဲ့ကြသည်။ မြို့ဝန်၏ လွဲမှားသော ခေါင်းဆောင်မှုကြောင့် မိမိတို့၏ပစ္စည်းများကို မီးတင်ရှို့ခဲ့သော စမိုးလင့် မြို့သူမြို့သားတို့၏ မတော်တဆ ဖြစ်ရပ်ကြီးကို အခြားသော ရုရှားပြည်သူတို့ကလည်း အတုယူခဲ့ကြလေသည်။ ဤသို့ဖြင့် နပိုလီယန်သည် ရှေ့ သို့ချီတက်လာခဲ့၍ ရုရှားတို့ကလည်း နောက်သို့ဆုတ်ပေး ခဲ့ရပြီးသည်၏ နောက်၌ကား နပိုလီယန်သည် မိမိ၏ပျက် စီးခြင်းကို ဖြစ်စေသော နိဂုံးသို့ (မည်သည့်စီမံကိန်းကြောင့် မျှ မဟုတ်ဘဲ) မတော်တဆ ဆိုက်ရောက်လာခဲ့လေ သတည်း။

## အခန်း ၂

သားတော်မင်းသားကလေး အင်ဒရေ စိတ်ဆိုး၍ ထွက်သွား သည့်နေ့၌ မင်းသားကြီးဘိုလကွန်စကီသည် မင်းသမီး ကလေးမေရီအား စာကြည့်ဆောင်သို့ လာရန် အခေါ်ခိုင်း လိုက်သည်။

“ဘယ့်နှယ်လဲ ကျေနပ်ပြီလားခင်ဗျာ။ တော်လဲ တော်တဲ့သမီးပဲဗျ။ သားနဲ့ အဖေ ရန်ဖြစ်အောင် လုပ်နိုင် ပေတယ်၊ ခုတော့ မယ်မင်းကြီး ကျေနပ်သွားပြီပေါ့။ ဟုတ်စ၊ ခင်ဗျားစိတ်တိုင်းကျ ဖြစ်သွားပြီပေါ့။ ဟုတ်စ၊ တယ်တော်၊ အင်း နှိပ်စက်ကြ၊ နှိပ်စက်ကြ၊ ငါသေခါနီးမှ ငါ့ကို စိတ်ဆင်းရဲအောင် နှိပ်စက်ကြ၊ ခုတော့ သေခါနီး ကြီး ဒုက္ခတွေ့ပပေ့ဆိုပြီး ဝမ်းသာကြသပေါ့လေ၊ ဝမ်းသာ ကြ၊ ဝမ်းသာကြ”

မင်းသားကြီး ဘိုလကွန်စကီက ဆို၏။

ထို့နောက်၌ မင်းသမီးကလေး မေရီသည် ခမည်း တော်မင်းသားကြီးနှင့် ရက်သတ္တတစ်ပတ်လုံးလုံး မတွေ့ရ တော့ချေ။ ခမည်းတော်မင်းသားကြီး ဘိုလကွန်စကီမှာ လည်း ကောင်းစွာ မကျန်းမာလှသည့်အတွက် စာကြည့် ဆောင်ထဲတွင်သာ အချိန်ကုန်လေသည်။

ဤသို့ မကျန်းမမာဖြစ်လျက်ရှိသည့် အတော အတွင်း၌ မင်းသားကြီး ဘိုလကွန်စကီသည် မိမိတစ်ဦး တည်းကိုသာမက ပြင်သစ်သူ ဘူရင်းကိုလည်း ဝင်ခွင့် မပေးဘဲထားသည့်အတွက် မင်းသမီးကလေးမေရီမှာ အံ့ အားသင့်လျက် ရှိပေသည်။ ကျွန်ယုံတော်ကြီး တီကွန် တစ်ဦးသာလျှင် မင်းသားကြီးဘိုလကွန်စကီကို ပြုစု စောင့် ရှောက်လျက် ရှိပေသည်။

ရက်သတ္တတစ်ပတ် လွန်မြောက်သည့်နောက်တွင် မင်းသားကြီး ဘိုလကွန်စကီသည် ပြန်လည်ကျန်းမာစပြု လာကာ စာကြည့်ဆောင်အပြင်သို့ ထွက်စပြုလာသည်။ ယခင်ကဲ့သို့ ပြုဖွယ်ရှိသောကိစ္စများကို ပြုမူဆောင်ရွက်ပြန် သည်။

အထူးသဖြင့် အဆောက်အအုံများ ဆောက်လုပ် သည့်ကိစ္စများ၊ ဥယျာဉ်ပန်းမန်များ စိုက်ပျိုးသည့်ကိစ္စများ တွင် ကိုယ်တိုင်ဝင်ရောက် စီမံခန့်ခွဲလျက် ရှိလေသည်။ ပြင်သစ်သူဘုရင်းနှင့်လည်း လုံးဝအဆက်အဆံ မပြုတော့ ချေ။ "ကဲ ဘယ့်နှယ်ရှိစ၊ သမီးတော်က ငါ့ကို မကောင်း ကြံသပေါ့လေ၊ ငါနဲ့ ပြင်သစ်သူဘုရင်းကို မဟုတ်တယုတ် ယိုးစွပ်ပြီး သားတော်အင်ဒရေဆီ သွားကုန်းချောတယ်ပေါ့။ ငါ့ကို ငါ့သားတော်နဲ့ ရန်တိုက်သပေါ့၊ ကဲ ခုတော့ ဘယ့် နှယ့်ရှိစ၊ လောကကြီးမှာ ငါ ဘယ်သူ့မှ ဂရုမစိုက်ဘူး၊ ပြင်သစ်သူ ဘုရင်းလဲ မလိုဘူး၊ သမီးတော်လဲ မလိုဘူး" မင်းသားကြီး ဘိုလကွန်စကီ၏အမူအရာနှင့် လေသံများ သည် မင်းသမီးလေးမေရီအား ဤသို့ ပြောနေဟန်ရှိ၏။

မင်းသမီးလေးမေရီသည် တူတော်ဘိုးအေချစ်မင်း သားကလေးအား စာသင်ပေးခြင်း၊ ရုရှားဘာသာနှင့် ဂီတသင်ခန်းစာ သင်ကြားပေးခြင်း၊ စာပြဆရာ ဒီဆေးလ် နှင့် စကားပြောခြင်း စသည်တို့ဖြင့် နေ့တစ်ဝက်ကို ကုန် ဆုံးစေ၏။ ကျန်နေ့တစ်ဝက်ကိုမူ စာဖတ်ခြင်း၊ အထိန်း တော်များနှင့် စကားပြောခြင်း၊ တစ်ခါတစ်ရံ နောက်ဖေး ပေါက်မှ တိတ်တိတ်ခိုးဝင်လာသော "ဖုန်းတောင်းယာစ ကာ" များနှင့် စကားပြောဆိုခြင်းဖြင့် ကုန်ဆုံးစေသည်။

စစ်နှင့် ပတ်သက်၍ကား မင်းသမီးကလေးမေရီ သည် အခြားသောမိန်းမများတွေးတောသကဲ့သို့ပင် တွေး တောခြင်းပြုလေသည်။ မင်းသမီးကလေး မေရီသည် စစ် မြေပြင်သို့ရောက်သော မောင်တော် မင်းသားကလေး အင်ဒရေအတွက် စိုးရိမ်ပူပန်ခြင်း ဖြစ်ရသည်။ တစ်ယောက် နှင့်တစ်ယောက် သတ်ဖြတ်ကြသည် အထိ ဖြစ်သော ထူး ဆန်းသည့် ရက်စက်ကြမ်းကြုတ်မှုကြီးကိုလည်း အံ့သြခြင်း၊ ကြောက်ရွံ့ခြင်း ဖြစ်ရသည်။ သို့ရာတွင် ထိုစစ်ပွဲကြီး၏ အရေးကြီးပုံကိုကား မင်းသမီးကလေးမေရီ နားမလည်ချေ။ ယခင်က စစ်ပွဲများကဲ့သို့ပင် သာမန်ကာလျှံကာမျှသာဟု အောက်မေ့လျက်ရှိလေသည်။ မင်းသမီးကလေးမေရီနှင့် နေ့စဉ်

တွေ့ဆုံနေရသော စာပြဆရာ ဒီဆေးလ်သည် စစ် အခြေအနေများနှင့်တကွ ၎င်း၏ယူဆချက်များကို စိတ် အားထက်သန်စွာရှင်းပြလေ့ရှိ၍ မိမိထံသို့ ရောက်လာကြ သော "ဖုန်းတောင်းယာစကာများကလည်း ရုရှားပြည် အား အင်တီခရစ်(ဘုန်းတော် ဆန့်ကျင်ရေးသမား) များ ဝင်ရောက်ကျူးကျော်လျက်ရှိကြောင်းဖြင့် ၎င်းတို့၏အမြင် အရပြောပြကြကာ ဂျူလီ(ယခု ဘိုးရစ်စ်၏ဇနီး)ကလည်း စင်နှင့် စပ်လျဉ်း၍ စာထဲတွင် မကြာခဏထုတ်ဖော် ရေး သားလေ့ရှိ၏။ သို့ တိုင်အောင် မင်းသမီးကလေးမေရီမှာ အံ့ခ်၏အရေးကြီးပုံကို သဘောမပေါက်နိုင်ဘဲဖြစ်လျက်  ရှိလေသည်။

"ဒီတစ်ခါတော့ ထိပ်ထားထံကို ရုရှားလိုပဲ ရေး လိုက်ပါတယ်" ဟု ဂျူလီ၏စာတွင် ဖော်ပြထား၏။ ရုရှား ဘာသာဖြင့် ရေးသားထားခြင်းဖြစ်သော်လည်း စာစီစာကုံး မှာ ပြင်သစ်ဆန်လျက်ရှိသည်။ "ဘာဖြစ်လို့လဲဆိုတော့ ဂျူလီဟာ ပြင်သစ်ဆိုရင် အားလုံးကို မုန်းတီးစက်ဆုပ်နေ လို့ပါပဲ၊ ပြင်သစ်စာနဲ့ စကားကိုလဲ ဂျူလီမုန်းလှပါပြီ။ ပြင်သစ်စကားပြောတာကိုတောင် မကြားလိုတော့လောက် အောင်ဖြစ်နေပါပြီ ထိပ်ထား၊ မော်စကိုမှာတော့ ဘုန်းတော် ကြီးသောဘုရား ကြွရောက်တော်မူလာတဲ့အတွက် အား ( လုံးဝမ်းသာအားရဖြစ်နေကြပါတယ်။

"ခုနေအချိန်မတော့ ဂျူလီရဲ့ သနားစရာ သက်ထား ( တစ်ယောက်တော့ဖြင့် စစ်မျက်နှာမှာရှိတဲ့ ရေဝတီထမင်း ဆိုင်လေးထဲမှာ ဆင်းရဲဒုက္ခအမျိုးမျိုးကိုခံပြီး နိုင်ငံတော် ကြီးရဲ့ အကျိုးကို ထမ်းဆောင်နေရတယ်လို့ သတင်းရပါ တယ် အစ်မတော်ထိပ်ထား၊ ဘယ်လိုပဲဖြစ်ဖြစ် ခုလိုသတင်း စကားကြားရတယ်ဆိုရင်ပဲ ဂျူလီတော့ ဝမ်းသာလှပါပြီ။

"ဩော် ဒါထက် ဗိုလ်ချုပ်ကြီးရဲ့ စကီရဲ့ စွမ်းစွမ်း တမံရှိလှတဲ့ စွန့်စားခန်းများကို အစ်မတော်ထိပ်ထား ကြားပြီးပါပြီလား၊ ဗိုလ်ချုပ်ကြီးရှေ့စကီဟာ သားနှစ်

ယောက် လက်ဝဲ လက်ယာရံပြီး ငါ့သားများနှင့် ငါ အတူ အသေခံအံ့၊ ငါတို့သည် ဤမျှသောရန်သူကို မဖြူလို့ဆိုပြီး ကျည်တွေ မိုးသီးမိုးပေါက်ပမာကျနေတဲ့ တိုက်ပွဲထဲကို ( ကိုယ်တိုင်ပါဝင်တိုက်ခိုက်တယ်ဆိုပဲ အစ်မတော်ထိပ်ထား ရဲ့၊ တကယ်ပါပဲ အစ်မတော်ထိပ်ထား၊ ရန်သူပြင်သစ်များ ဟာ ဂျူလီတို့စစ်သည် အင်အားထက် နှစ်ဆမျှကြီးမားပေ မယ့် ဂျူလီတို့စစ်သည်တပ်သားများကတော့ ရင်မြေက တုတ်လုပ်ပြီး ကာကွယ်ကြပေတာပဲ၊ ဂျူလီတို့ မော်စကို မှာတော့ အတတ်နိုင်ဆုံး ပျော်ပျော်ရွှင်ရွှင်နေကြပါတယ်။ ဒါပေမဲ့ စစ်ဖြစ်နေတုန်းဆိုတော့ စစ်ဖြစ်သည့်အလျောက်ပဲ ပျော်နိုင်ကြတာပေါ့လေ၊ ထိပ်ထား ဆိုဖီနဲ့ ထိပ်ထား အယ်လင်တို့လဲ ဂျူလီနဲ့ နေ့တိုင်းတွေ့ကြပါတယ်၊ အသက် ရှင်လျက်ရှိသော လင်ယောကျ်ားများရဲ့ ကံဆိုးသူ မုဆိုးမ တစ်ပိုင်းဖြစ်နေကြရတဲ့ ဂျူလီတို့တစ်သိုက်မှာ တော့ဖြင့် ကိုယ့်သက်ထားအကြောင်း ကိုယ်ပြောပြီး စိတ်ကို ဖြေနေ ကြရတော့တာပဲ၊ ဂျူလီတို့တစ်သိုက် ဆုံမိမှဖြင့် ထိပ်ထား  လေးကို အောက်မေ့လိုက်ပါဘိတော့ ထိပ်ထားရယ်”

မင်းသမီးကလေး မေရီအဖို့ ဤစစ်ကြီး၏အရေး ကြီးပုံကို ကောင်းစွာနားမလည်ခြင်းမှာ ခမည်းတော်မင်း သားကြီးသည် ထိုစစ်ကြီးကို အသိအမှတ်လည်း မပြု၊ ထိုစစ်ကြီးအကြောင်းကို စကားထဲတွင် ထည့်၍လည်း ပြောဆိုခြင်းမရှိ။ တစ်ခါတစ်ရံ စာပြဆရာ ဒီဆေးလ်က ပြောဆိုသည့်အခါ၌လည်း ရယ်မောလှောင်ပြောင်တတ် သောကြောင့် ဖြစ်ပေသည်။ ခမည်းတော်မင်းသားကြီး ဘို လကွန်စကီ၏လေသံမှာ အေးအေးဆေးဆေး ရှိရုံမျှမက အရေးမကြီးဟန်ပါလှသဖြင့် မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီး၏စကားကို ယုံကြည်လျက် ရှိလေသည်။

ဇူလိုင်လတစ်လလုံး မင်းသားကြီးဘိုလကွန်စကီ မှာ အလုပ်နှင့် လက်မပြတ်အောင်ရှိကာ အထူးတလည် ရွှင်လန်းလျက်ရှိလေသည်။ မင်းသားကြီးဘိုလကွန်စ

ကီ သည် ဥယျာဉ်သစ်တစ်ခုစိုက်ပျိုးရန် စီစဉ်လျက်ရှိရင်း တစ်ဖက်ကလည်း စံအိမ်တော်အမှုထမ်းများ၊ အစေတော် များအတွက် အဆောက်အအုံသစ်များ ဆောက်လုပ်လျက် ရှိ၏။ ဤတွင် မင်းသမီးကလေးမေရီ၌ ခမည်းတော်ကြီး အတွက် စိုးရိမ်လျက်ရှိသော အချက်တစ်ချက် ရှိသည်။ ယင်းမှာ မင်းသားကြီးလကွန်စကီသည် တစ်နေ့တခြား အအိပ် အနေ နည်းပါးလာကာ ခါတိုင်းကဲ့သို့ စာကြည့် ဆောင်ထဲတွင် မအိပ်ဘဲ နေ့တိုင်း အိပ်ရာနေရာပြောင်း လျက် ရှိခြင်းပင် ဖြစ်လေသည်။ ယနေ့ မှန်ခန်းဆောင် ထဲတွင် အိပ်စင်ထုတ်၍ အိပ်ပြီး နောက်တစ်နေ့ဆိုလျှင် အဝတ်အစားပင်မလဲတော့ဘဲ ဧည့်ခန်းဆောင်ထဲရှိ ပက် လက်ထိုင်ဖုံတွင်သော် လည်းကောင်း၊ အပန်းဖြေဖုံပေါ်တွင် လည်းကောင်း အိပ်လေ့ ရှိ၏။ ယခင်က မအိပ်မီတွင် ပြင်သစ်သူ ဘူရင်းအား စာဖတ်ခိုင်းလေ့ ရှိသော်လည်း ယခုမူ အစေတော်သူငယ်တစ်ယောက်ကို ဖတ်စေသည်။ နောက်တစ်နေ့ညတွင် ထမင်းစားခန်းဆောင်ထဲသို့ ပြောင်း ၍ အိပ်ပြန်သည်။ ဤသို့ဖြင့် မင်းသားကြီး ဘိုလကွန်စကီ သည် အအိပ်အနေနည်းပါးလာကာ အိပ်ပြန်လျှင်လည်း တစ်နေရာတွင် စွဲစွဲမြဲမြဲ မအိပ်တော့ဘဲ ညတိုင်း နေရာ ပြောင်းလျက် ရှိလေသည်။

ဩဂုတ်လ ၁-ရက်နေ့တွင် မင်းသားကလေး အင် ဒရေထံမှ စာတစ်စောင် ရောက်လာလေသည်။ မင်းသား   ကလေးအင်ဒရေသည် ခမည်းတော်ကြီးနှင့် စကားများ၍ ထွက်သွားပြီးနောက် မကြာမီပင် ပထမစာတစ်စောင်ကို ရေးသား ပေးပို့လိုက်ရာ ထိုစာထဲတွင် မိမိ၏ပြောမှားဆို မှား ဖြစ်ခဲ့မိခြင်းများအတွက် ခွင့်လွှတ်ပါရန်၊ မိမိအား ယခင်ကကဲ့သို့ ချစ်ခင်မြဲ ချစ်ခင်ပါရန် ခမည်းတော်ကြီး ( အား တောင်းပန်ထား၏။ မင်းသားကြီးဘိုလကွန်စကီ သည် ထိုစာကို ဖတ်ပြီးနောက် သားတော် မင်းသားကလေး အင်ဒရေထံသို့ ကြည်ကြည်သာသာပင် စာပြန်ရေးခဲ့၏။ ထိုစာကို ရသည့်နောက်တွင် မင်းသားကြီးဘိုလကွန်စကီ သည် ပြင်သစ်သူဘူရင်းကိုလည်း အရောမဝင်တော့ချေ။ မင်းသားကလေးအင်ဒ

ရေ၏ဒုတိယစာမှာ ဗီတက်မြို့ကို ပြင်သစ်တို့ ဝင်ရောက်သိမ်းပိုက်ပြီး မကြာမီ ထိုမြို့အနီးရှိ ( တပ်စခန်းတစ်ခုမှ ပေးပို့လိုက်သောစာ ဖြစ်လေသည်။ ထိုစာထဲ၌ စစ်မျက်နှာအခြေအနေနှင့်တကွ ၎င်းကိုယ်တိုင် ရေးဆွဲထားသည့် စစ်ဆင်မှု စီမံကိန်းတစ်ခုကိုပါ ဖော်ပြ ထားကာ စစ်ပွဲ၏ ရှေ့အလားအလာများကိုလည်း တွက် ချက်ပြထားသည်။ ယခုအချိန်၌ ခမည်းတော်ကြီးနေထိုင် ရာ"တောင်ကတုံး" ဒေသမှာ စစ်တလင်းနှင့် များစွာနီးကပ် ကာ စစ်လမ်းကျလျက် ရှိကြောင်း၊ ထိုဒေသတွင် ဆက် လက်နေထိုင်ခြင်းမှာ အန္တရာယ်များလှကြောင်း၊ ထို့ကြောင့် မော်စကိုသို့ ပြောင်းရွှေ့ စေလိုကြောင်းဖြင့်လည်း ထိုဒုတိယ စာထဲတွင် ဖော်ပြထားလေသည်။

ထိုနေ့ညစာစားပွဲ၌ စာပြဆရာဒီဆေးလ်က ပြင် သစ်တို့ ဗီတက်မြို့ကို သိမ်းပိုက်လိုက်ကြောင်း စကားစပ် မိ၍ ပြောကြသည့်အခါ၌ မင်းသားကြီး ဘိုလ ကွန်စကီသည် သားတော် မင်းသားကလေးအင်ဒရေ၏စာကို အမှတ်ရ လာသည်။

"ဒီနေ့ အင်ဒရေ့ဆီက စာတစ်စောင် ရတယ်။ သမီးတော် ဖတ်ပြီးပလား" မင်းသားကြီးဘိုလကွန်စကီက သမီးတော် မင်းသမီးကလေး မေရီကို မေးလိုက်၏။

"မဖတ်ရသေးပါဘူး ဖေဖျား" မင်းသမီးကလေး မေရီက ခပ်ကြောက် ကြောက်ဖြင့် ပြန်ပြောလိုက်လေသည်။

စာရောက်သည်ကိုမှ မသိသေးရကား အဘယ်မှာ လျှင် ထိုစာကို ဖတ်ရဦး မည်နည်း။

"အင်ဒရေစာထဲမှာ စစ်သတင်းတွေ ပါလာတယ်" မင်းသားကြီး ဘိုလကွန်စ ကီက လက်ရှိစစ်ပွဲအကြောင်းကို ပြောတိုင်း လှောင်ပြောင်သည့်အပြုံးဖြင့် ပြော တတ်သည့် အတွက် ယခုလည်း ခပ်လှောင်လှောင်ပြောလိုက်သည်။

"တော်တော် စိတ်ဝင်စားစရာ ကောင်းမှာပဲနော် ကိုယ်တော်ကြီး၊ မင်းသား ကလေးအင်ဒရေကတော့ စစ်ရေး စစ်ရာကို ခရေစေ့တွင်းကျ သိနိုင်နေတော့" စာပြဆရာ ဒီဆေးလ်က ပြောလိုက်သည်။

"ဟုတ်တယ် သိပ်စိတ်ဝင်စားစရာကောင်းတာပဲ" ပြင်သစ်သူ ဘူရင်းက ဝင်ပြောလိုက်သည်။

"သွား အဲဒီစာကို ယူခဲ့စမ်း" မင်းသားကြီး ဘို လကွန်စကီကပြော၏။ "စားပွဲပေါ်က စာရွက်ဖိတဲ့ ဖန်တုံး ကလေးအောက်မှာ ရှိတယ်"

ပြင်သစ်သူဘူရင်းသည် စိတ်အားထက်သန်သော အမူအရာဖြင့် ထသွားလေသည်။

"ဟေ့ နင့်ကိုခိုင်းတာ မဟုတ်ဘူး၊ အိုင်ဗင်နိုဗစ်ချ် ကို အယူခိုင်းတာ၊ သွားယူချေစမ်း"မင်းသားကြီး ဘိုလကွန် စကီက မျက်မှောင်ကုတ်၍ ပြောလိုက်သည်။

စာကြည့်ဆောင်ဘက်သို့ ဗိသုကာ အိုင်ဗင်နိုဗစ်ချ် ထွက်သွားသည်။ သို့ရာတွင် ဗိသုကာထွက်သွားသည်နှင့် တစ်ပြိုင်နက် မင်းသားကြီးဘိုလကွန်စကီသည် မကျေချမ်း ဟန်ဖြင့် ပတ်ဝန်းကျင်ကို ကြည့်လိုက်ပြီးနောက် ပေါင် ပေါ်၌ ဖြန့်ခင်းထားသော လက်သုတ်ပဝါကို လွှတ်ချလိုက် ကာ ကိုယ်တိုင်ယူရန် ထသွားပြန်သည်။

"သင်းတို့ ခိုင်းရရင် ဘာမှ သောက်ပေါက်မတည့် ဘူး" ဟုလည်း ပါးစပ်က ရေရွတ်လိုက်သေးသည်။

မင်းသားကြီးဘိုလကွန်စကီ ထသွားသောအခါ၌ မင်းသမီးကလေး မေရီ၊ စာပြဆရာ ဒီဆေးလ်၊ ပြင်သစ်သူ ဘုရင်းနှင့် တကွ ဘိုးအေချစ်မင်းသားကလေး တို့သည် တစ်ဦးကို တစ်ဦး တိတ်ဆိတ်စွာကြည့်နေမိကြသည်။ ခဏကြာလျှင် ခြေ

သံတဒိုင်းဒိုင်းပေးကာ မင်းသားကြီး ဘိုလကွန်စကီ ပြန်လာလေသည်။ လက်ထဲတွင် စာနှင့် စခ်ဆင်မှု စီမံကိန်းစာရွက်ကို ကိုင်လာသည်။ ဗိသုကာကြီး သည်နောက်မှ ခပ်ကုပ်ကုပ်လိုက်ပါလာ၏။ ထို့နောက် မင်းသားကြီးဘိုလကွန်စကီသည် ညစာစားချိန်ဖြစ်သဖြင့် မည်သူ့ကိုမျှ ဖတ်ခွင့်မပေးသေးဘဲ ၎င်း၏အနီးတွင် စာ ၄က်များကို ချထားလိုက်လေသည်။

ညစာစားပြီး၍ ဧည့်ခန်းဆောင်ဘက်သို့ ကူးလာခဲ့ ကြသည့်အခါတွင်မှ မင်းသားကြီး ဘိုလကွန်စကီသည် မင်းသားကလေးအင်ဒရေ၏စာကို မင်းသမီးကလေးမေရီ ထံလှမ်းပေးကာ အသံထွက်ဖတ်စေသည်။ ၎င်းကိုယ်တိုင် မှာကားဆောက်လုပ်ဆဲ အဆောက်အုံသစ်ပုံစံများကို ဖြန့်၍ကြည့်လျက်ရှိ၏။ မင်းသမီးကလေး မေရီသည် စာ ကိုဖတ်ပြီးနောက် ခမည်းတော်ကြီးကို မရဲတရဲကြည့်လိုက်သည်။ မင်းသားကြီး ဘိုလန်စကီသည် အဆောက်အအုံ ပုံစံများကို ကြည့်မြဲကြည့်လျက်ရှိ၏။

“ဘယ်လိုသဘောရပါသလဲ ကိုယ်တော်ကြီး” ဒီဆေးလ်ကအရဲစွန့်၍ မေးလိုက်သည်။

“ဟင်” မင်းသားကြီးဘိုလကွန်စကီသည် လန့် သွားသကဲ့သို့ တစ်ခွန်းမျှသာ ပြောပြီး အဆောက်အအုံပုံစံ ကို ကြည့်မြဲ ကြည့်နေပြန်သည်။ -

”စစ်တလင်းကတော့ ကျွန်တော်တို့အနားတဖြည်း ဖြည်း ရောက်လာတော့ မယ်ထင်တယ်၊ ဒီတော့”

“ဟား ဟား စစ်တလင်းတဲ့၊ ဘာစစ်တလင်းလဲ၊ ဘယ်က စစ်တလင်းလဲ” မင်းသားကြီး ဘိုလကွန်စကီက ပြောလိုက်၏။ “စစ်တလင်းဟာ ဒီမှာ မဟုတ်ဘူး၊ ရုရှား ပြည်မှာ မရှိဘူး၊ စစ်တလင်းက ပိုလန်ပြည်မှာ ရှိတယ်။ ဒီစကားကို ကျုပ် အ

ရင်တုန်းကလဲ ပြောခဲ့ဖူးတယ်၊ ခုလဲ ပြောတယ်၊ ဒီပြင်သစ်ကောင်တွေဟာ နီမင်မြစ်ရဲ့ ဒီဘက် ကမ်းကို ဘယ်တော့မှ မရောက်ဘူး၊ မသေမချင်း မှတ်ထား”

စာပြဆရာ ဒီဆေးလ်သည် မင်းသားကြီးဘိုလကွန် ( စကီကို တအံ့တသြ ကြည့်နေ၏။ စင်စစ်၌ကား ရန်သူ ပြင်သစ်တို့သည် ရုရှားပြည်ထဲသို့ မိုင်ပေါင်းများစွာ တိုး ဝင်လာခဲ့ကာ ဒနီးပါးမြစ်ကမ်းသို့ပင် ရောက်လာခဲ့ကြလေ ပြီ။ သို့စင်လျက် မင်းသားကြီး ဘိုလကွန်စကီကား ရုရှား နယ်စပ်ရှိ နီမင်မြစ်ကမ်းသို့ပင် ပြင်သစ်တို့ မရောက်နိုင်ဟု ပြောဆိုလျက်ရှိ၏။ မင်းသမီးကလေးမေမှာမူ နီမင်မြစ်၏ ပထဝီ အနေအထားကို ကောင်းကောင်းမမှတ်မိတော့သည့် အတွက် ခမည်းတော်ကြီး၏စကားကို အဟုတ်ထင်နေဆဲ ဖြစ်သည်။

“ဆောင်းကုန်လို့ ရေခဲတွေ အရည်ပျော်ချိန် ရောက် ရင် ခွေးသားပြင်သစ်ကောင်တွေ ပိုလန်ပြည်က ညွန်တော ဗွက်တောတွေမှာ အကုန်နစ်ပြီး သေကုန်မှာကိုတော့ သင်းတို့ မမြင်ကြဘူး” မင်းသားကြီး ဘိုလကွန်စကီသည် ၁၈၀၇- ခုနှစ် စစ်ပွဲဟု ထင်မှတ်ကာ အလွဲလွဲအမှားမှား ပြောဆိုလျက် ရှိလေသည်။ ၎င်းစိတ်၌ ၁၈၀၇- ခု စစ်ပွဲ နှင့် ရောထွေးလျက်ရှိသည်။

“ဘင်နစ်ဆန် ဆိုတဲ့ကောင်က ဩစတြီးယားကို စောစောစီးစီးမှ မဝင်ဘဲကိုး၊ ဩစတြီးယားထဲ စောစော စီးစီးဝင်မိရင် ခွေးသားပြင်သစ်ကောင်တွေ အနားတောင် မသိနိုင်ဘူး”

“ကိုယ်တော်လေးစာထဲမှာက ဗီတက်မြို့ကိုတောင် သိမ်းပြီးပြီလို့” စာပြဆရာ ဒီဆေးလ်က ကြောက်ကြောက် ရွံ့ရွံ့ ဝင်ပြောလိုက်၏။

“ဟင် အင်ဒရဲ့ဆီက စာထဲမှာလား၊ အိမ်း ဟုတ်ပေသားပဲ၊ ဟုတ်တယ် ဟုတ်တယ်” မင်းသားကြီး ဘိုလကွန်စကီသည် ထိုအခါကျမှ သတိရလာသည်။ အတန်ကြာ' တိတ်ဆိတ်နေပြီးနောက်

”ဟုတ်တယ် သတိများကလဲ တယ်မေ့သကိုး၊ စာထဲမှာက ဘာတဲ့၊ ပြင်သစ်တွေကို ချေမှုန်းလိုက်ပြီဆို၊ ဘယ်မြစ်နားမှာဆိုလား”

ဒီဆေးလ်သည် မျက်လွှာကို ချလိုက်၏။ “စာထဲမှာ ဒီလိုမပါဘူး ကိုယ်တော်ကြီး”

“ဗျာ စာထဲမှာ မပါရင် ကျုပ်က လုပ်ကြံပြောတယ် လို့ ဆိုချင်သေးသလား”

မည်သူမျှ ပြန်လှန်မပြောရဲကြသဖြင့် အတန်ကြာ တိတ်ဆိတ်နေကြသည်။

“အိုင်ဗင်နိုဗစ်ချ်” မင်းသားကြီး ဘိုလကွန်စကီက ဗိသုကာကြီးဘက်သို့ လှည့်လိုက်ပြီးနောက် အဆောက် အအုံပုံစံကို ထောက်ပြကာ “မင်း ဒီနေရာကို ဘယ်လို ပြင်ဆောက်မယ်လို့ စိတ်ကူးထားသလဲ ပြောပြစမ်း”

အိုင်ဗင်နိုဗစ်ချ်သည် အဆောက်အအုံပုံစံ စာရွက် နားသို့ ကပ်သွား၏။ မင်းသားကြီး ဘိုလကွန်စကီသည် အဆောက်အအုံသစ်များအကြောင်းကို ဗိသုကာနှင့် ပြော ဆိုတိုင်ပင်ပြီးနောက် ဒီဆေးလ်နှင့် သမီးတော် မင်းသမီး ကလေး မေရီကို စိတ်ဆိုးမာန်ဆိုးဖြင့်ကြည့်ကာ ၎င်း၏ အခန်းဆောင်သို့ ဝင်သွားလေသည်။

ဒီဆေးလ်က ခမည်းတော်ကြီးအား ရက်ကြောက် အံ့သြသောအမူအရာဖြင့် ကြည့်လျက်ရှိခြင်းကို မင်းသမီး ကလေးမေရီ မြင်လိုက်၏။ ဒီဆေးလ်၏ တိတ်ဆိတ်လျက်  ရှိခြင်းကိုလည်း သတိထားလိုက်မိ၏။ သားတော် အင်ဒရေ၏စာကို ခမည်းတော် မေ့၍ထားခဲ့ခြင်းကိုလည်း အံ့သြ လျက်ရှိ၏။ သို့ရာတွင် မင်းသမီးကလေးမေရီသည် ထို စာအကြောင်းကို စကားလည်း မစဝံ့၊ ဒီဆေးလ်အား အဘယ်ကြောင့် တုဏှိဘာဝေပြုနေရခြင်း အကြောင်းကို လည်း မမေးဝံ့ဘဲ ငိုင်လျက်ရှိလေသည်။

ညနေပိုင်း၌ ဗိသုကာအိုင်ဗင်နိုဗစ်ချ်သည် မင်းသားကြီး ဘိုလကွန်စကီ၏ စေခိုင်းချက်အရ မင်းသမီးကလေး မေရီထံသို့ရောက်လာကာ နေ့လယ်က မေ့ကျန်ရစ်ခဲ့သော မင်းသားကလေးအင်ဒရေ၏စာကို လာရောက် တောင်းယူ လေသည်။ မင်းသမီးကလေးမေရီသည် မင်းသားကလေး အင်ဒရေ၏စာကို အိုင်ဗင်နိုဗစ်ချ်၏ လက်ထဲသို့ ထည့် လိုက်ပြီးနောက် စိတ်တထင့်ထင့်နှင့်ပင် ခမည်းတော်ကြီး၏အကြောင်းကို မေးမြန်းစုံစမ်းရပြန်သည်။

"ထုံးစံအတိုင်းပေါ့ ထိပ်ထားရယ်၊ တကုတ်ကုတ် အလုပ်များနေတာပေါ့" အိုင်ဗင်နိုဗစ်ချ်က ခပ်လှောင် လှောင်ပြုံး၍ ပြောလိုက်သဖြင့် မင်းသမီးကလေး မေရီမှာ မျက်နှာပျက်သွားသည်။ "ကိုယ်တော်ကြီးက အဆောက် အအုံသစ်တွေကို ချည်းပဲ စဉ်းစားနေတယ်၊ စောစောတုန်းက တော့ စာဖတ်နေတာပဲ၊ ဒါပေမဲ့ ခု တော့" အိုင်ဗင်နိုဗစ်ချ်သည် လေသံကို တိုးလိုက်သည်။

"ခုတော့ စားပွဲမှာထိုင်ပြီး စာရေးနေတယ်၊ ကျွန် တော့်အထင်တော့ သေတမ်းစာရေးနေတယ် ထင်တာပဲ" (မင်းသားကြီး ဘိုလကွန်စကီသည် ယခုတလာ၌ မိမိ ကွယ်လွန်ပြီးနောက် ထားခဲ့ရန်အတွက် "သေတမ်းစာ"ဟု ၎င်းဘာသာ အမည်ပေးထားသောစာများ ရေးသားရခြင်းကို များစွာ နှစ်ခြိုက်လျက် ရှိသည်။) *

"အယ်ပါတစ်ကို စမိုးလင့်နယ်ဘက် လွှတ်ပြီး ပလား" မင်းသမီးကလေး မေရီက မေးလိုက်၏။

"မှန်ပါ သွားဖို့ အဆင်သင့်ဖြစ်နေပါပြီ၊ ဒါပေမဲ့ ကိုယ်တော်ကြီးထံက ဘာမှ အမိန့်မရသေးလို့ မသွားရ သေးပါဘူး ထိပ်ထား"

# အခန်း ၃

မင်းသားကလေးအင်ဒရေ၏စာကို ယူ၍ စာကြည့်ဆောင် သို့ ဗိသုကာကြီး အိုင်ဗင်နိုဗစ်ချ် ပြန်လာသောအခါ၌ မင်း သားကြီးဘိုလီကွန်စကီသည် မျက်မှန်ကို တပ်လျက် အလင်း ကာ လကြေးပြားကို ခေါင်းတွင် စွပ်ထားရင်း စလောင်း အုပ် ဖယောင်းတိုင်များ ထွန်းညှိထားသည့် စားပွဲတွင်ထိုင် လျက် ရှိ၏။ စာရွက်တစ်ရွက်ကို လက်တွင် ဆန့်တန်း၍ ကိုင်ထားကာ မိမိကွယ်လွန်ပြီးနောက် ဘုရင်ဧကရာဇ်ထံ ဆက်သရန်ဖြစ်သည့် စာလွှာ (၎င်းကို မင်းသားကြီးက "မှတ်စုမှတ်တမ်း" များ ဟု ခေါ်သည်။) ကို လေယူလေသိမ်း ဖြင့် ဌာန်ကရိုဏ်းကျကျ ဖတ်လျက်ရှိ၏။

မင်းသားကြီးဘိုလကွန်စကီသည် ဤစာလွှာကို ရေးပြီးသည့်အချိန်ကို စိတ်ကူးဖြင့် မျှော်မှန်းကာ မျက်ရည် တွေလည်လာသည်အထိ ကြည်နူးလျက်ရှိ လေရာ အိုင်ဗင် နိုဗစ်ချ် ပြန်ရောက်လာသည်အထိ မျက်ရည်များဝဲလျက် ရှိဆဲပင် ဖြစ်၏။ မင်းသားကြီး ဘိုလကွန်စကီသည် အိုင်ဗင် နိုဗစ်ချ်၏လက်ထဲမှာစာကိုယူ၍ အိတ်ကပ်ထဲသို့ ထည့် လိုက်ပြီး ၎င်း၏စာရွက်စာတမ်းများကို ခေါက်၍ သိမ်း ဆည်းကာ အချိန်အတော်ကြာကပင် စောင့်ဆိုင်းလျက်ရှိ သည့် အယ်ပါတစ်ကို ခေါ်လိုက်၏။

မင်းသားကြီး ဘိုလကွန်စကီသည် စမိုးလင့်၌ အသုံးအဆောင်ပစ္စည်းများ ဝယ်ယူရန်ရှိသည့်အတွက် အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန်လျှောက်ရင်း တံခါးဝ အနီးတွင်ရပ်နေသော အယ်ပါတစ်ကို ညွှန်ကြားချက်များ ပေးလျက်ရှိသည်။

"ပထမစာရေးစက္ကူ ဝယ်ရမယ်၊ ကြားရဲ့လား၊ ရေးစက္ကူရှစ်ထုတ်၊ ဒီအမျိုး အစားထဲက ဝယ်ခဲ့ရမယ်၊ အနားမှာ ရွှေမင်သုတ်ထားတဲ့ စာရွက်မျိုး၊ ဒီနမူနာ အတိုင်း ခ်ပစေနော်၊ အရောင်တင်ဆေးရယ်၊ တံဆိပ်နှိပ်ဖို့ ချိပ် အောင့်ရယ်၊ နောက် အိုင်ဗင်နိုဗစ်ချ်ပေးထားတဲ့ စာရင်း က ပစ္စည်းတွေရယ်"

မင်းသားကြီးဘိုလကွန်စကီသည် အချိန်အတန် ကြာမျှ ခေါက်တုံ့ခေါက်ပြန် လျှောက်နေပြီးနောက် မှတ် သည့်စာရင်းစာရွက်ကို ငုံ့ကြည့်လိုက်၏။ "ပြီးတော့ စာချုပ်ကိစ္စနှင့်ပတ်သက်လို့ စမိုးလင့် မြို့ဝန်ဆီကို စာတစ်စောင် ပေးလိုက်မယ်၊ အဲဒီစာကိုလဲ မင်းကိုယ်တိုင် သွားပေးရမယ်"

ထို့နောက် အဆောက်အအုံသစ်များအတွက် တံခါး မင်းတုပ်များမှာရန် ကျန်နေသေးသည်။ ထိုတံခါး မင်းတုပ် များမှာ မင်းသားကြီး ဘိုလကွန်စကီကိုယ်တိုင် ပုံစံဆွဲထား သော တံခါးမင်းတုပ်များဖြစ်သည်။ ထို့ပြင် "သေတမ်း စာ"ထည့်ရန် အတွက် သားရေဖြင့် ချုပ်ထားသော သေတ္တာ ကလေးတစ်လုံးလည်း လိုချင်သေးသည်။

မင်းသားကြီး ဘိုလကွန်စကီသည် ဤသို့ အယ်ပါ တစ်အား ဝယ်ရမည့် ပစ္စည်းစာရင်းနှင့် တကွ ပစ္စည်းအမျိုး အမည်များကို ပြောပြနေသည်မှာ နှစ်နာရီ နီးပါး ကြာပြီ ဖြစ်သော်လည်း သွားခွင့်မပြုသေးချေ။ ထိုင်ဖုံတွင် ထိုင်ချ ကာ မျက်လုံးများကိုမှိတ်၍ စဉ်းစားလျက်ရှိရာမှ အိပ်ငိုက် နေပြန်သည်။ အယ်ပါတစ်က အသံပြုလိုက်၏။

"ဟင် အေး သွားတော့၊ ဝယ်ရမယ့်ပစ္စည်း နောက်ထပ်စဉ်းစားလို့ရရင် ငါ အခေါ်ခိုင်းလိုက်မယ်"

အယ်ပါတစ်သည် စာကြည့်ဆောင်မှ ထွက်သွား ၏။ မင်းသားကြီးဘိုလကွန် စကီသည် ဗီရိုစားပွဲကလေးနား သို့ ထသွားပြန်ကာ စာရွက်များကိုစမ်း၍ ရှာဖွေပြီး နောက် ဗီရိုကို ပြန်ပိတ်လိုက်ပြန်သည်။ ထို့နောက် စမိုးလင့်မြို့ဝန် ထံ စာရေးရန် အတွက် စားပွဲတွင် ထိုင်လိုက်၏။

စမိုးလင့်မြို့ဝန်ထံပေးမည့်စာကို ချိပ်ပိတ်ပြီးသည့် အချိန်၌ အတော်ညဉ့်နက်ခဲ့လေပြီ။ မင်းသားကြီးဘိုလကွန် စကီသည် အိပ်ချင်စပြုလာ၏။ သို့သော်လည်း

အိပ်၍ ပျော်နိုင်ဦးမည် မဟုတ်သေးချေ။ စိတ်ညစ်ညူးဖွယ် ကောင်း လှသော အတွေးများသည် ခေါင်းထဲသို့ ဝင်ရောက်လာ ကြဦးမည်ဖြစ်ကြောင်း သိပြီး ဖြစ်လေသည်။ ထို့ကြောင့် မင်းသားကြီးဘိုလကွန်စကီသည် ကျွန်ယုံတော်ကြီးတီကွန်ကိုခေါ်ကာ ထိုနေ့ညအဖို့ မိမိ၏အိပ်ရာ မည်သည့်နေရာ တွင် ပြင်ဆင်ရမည်ကို ကြည့်ရှုရန်အတွက် အခန်းစေ့ လျှောက် သွားနေပြန်သည်။ . မင်းသားကြီး ဘိုလကွန်စကီသည် အခန်းထောင့် ကို လိုက်လံကြည့်ရှု၏။ သို့ရာတွင် မည်သည့်နေရာမျှ စိတ်ကြိုက်မတွေ့ချေ။ အဆိုးဆုံးကား စာကြည့်ဆောင် ထဲရှိ အိပ်နေကျ အပန်းဖြေထိုင်ဖုံကြီးဖြစ်သည်။ မင်းသား ကြီး ဘိုလကွန်စကီ၏စိတ်၌ ထိုထိုင်ဖုံကြီးသည် ကြောက်   စရာကောင်းသည်ဟုထင်၏။ ထိုထိုင်ဖုံကြီးပေါ်သို့ လှဲ လိုက်သည်နှင့်တစ်ပြိုင်နက် စိတ်ညစ်ညူးစရာအတွေးများ ပေါ်လာတတ်သောကြောင့် ပင် ဖြစ်တန်ရာသည်။ သို့ဖြင့် မင်းသားကြီး ဘိုလကွန်စကီအဖို့၌ ဤမျှကျယ်ဝန်းသော စံအိမ်ကြီးထဲတွင် အိပ်စရာနေရာကို စိတ်ကြိုက်ရှာဖွေ မတွေ့နိုင်အောင်ဖြစ်လျက် ရှိသည်။ နောက်ဆုံး၌ ညှော်ခန်း ဆောင်ထဲရှိ စန္ဒရားကြီးနောက်က ချောင်ကလေးတစ်ချောင် ကို သွားတွေ့လေသည်။ ထိုနေရာမှာ အခြားနေရာများနှင့် စာလျှင် ကောင်းသည်ဟုတွေးကာ ထိုနေရာကို ရွေးချယ် လိုက်သည်။ ထိုနေရာတွင် တစ်ခါမျှ မအိပ်ဖူးသေးချေ။

တီကွန်သည် အစေခံတစ်ယောက်၏ အကူအညီ ဖြင့် မင်းသားကြီး ဘိုလကွန်စကီ၏ခုတင်ကို မလာပြီး နေရာတကျ စီစဉ်လျက် ရှိ၏။

"ဒီလိုမဟုတ်ပါဘူးကွ၊ အိပ်ရာကို ဒီလိုမခင်းစမ်း ပါနဲ့" မင်းသားကြီး ဘိုလကွန်စကီသည် အော်ငေါက်ကာ ၎င်းကိုယ်တိုင် ခုတင်ကို အခန်းထောင့်နှင့် ခပ်ကွာကွာသို့ ဆွဲရွှေ့လိုက်သည်။ နောက်တစ်ဖန် ပြန်ကပ်လိုက်ပြန် သည်။

"အင်း ဘာဖြစ်ဖြစ် ငါကိုယ်တိုင်လုပ်မှပဲ ပြီးတော့ တယ်၊ ကဲ အိပ်မယ် အိပ်မယ်၊ ကောင်းကောင်းအိပ်မယ်" မင်းသားကြီး ဘိုလကွန်စကီသည် ဤသို့တွေးကာ မိမိ ကိုယ်ပေါ်မှ အဝတ်အစားများကို တီကွန်အား ချွတ်စေ သည်။

မင်းသားကြီး ဘိုလကွန်စကီသည် ဇရာဖိစီးလာပြီ ဖြစ်သည့်အလျောက် အဝတ်အစားချွတ်ရာ၌ ကိုယ်လက် ပင်ပန်းခြင်းဖြစ်ရမည့်အရေးကို တွေးမိကာ မျက်မှောင် ကုတ်လိုက်မိသည်။ တီကွန်က အဝတ်အစားများကို ချွတ် ပေးပြီး သည့်နောက်၌လည်း မင်းသားကြီးဘိုလကွန်စကီ သည် အိပ်ရာပေါ်သို့ ပင်ပန်းကြီးစွာ ထိုင်ချလိုက်ကာ ရဲ့ပိန်ဝါကျင့်လျက်ရှိသောခြေထောက်များကိုကြည့်ရင်း တစ်စုံတစ်ရာကို တွေးတောနေဟန် ရှိလေသည်။ အမှန် အားဖြင့် မင်းသားကြီးဘိုလကွန်စကီသည် မည်သည့်အရာ ကိုမျှ တွေးတောနေခြင်း မဟုတ်ချေ။ ခြေထောက်များကို ခုတင်ပေါ်သို့ ပင်ပန်းကြီးစွာတင်ရမည့်အရေးကို စိတ်လေး နေခြင်းသာ ဖြစ်လေသည်။ "အိမ်း တယ်လို့လဲ ပင်ပန်းလှ ပါကလား ဟရို့ ၊ အေးလေ သင်းတို့ခြေတွေ လက်တွေ  ငါ့ကို ကြာကြာဒုက္ခပေးနိုင်တော့မှာ မဟုတ်ပါဘူး၊ မကြာ ခင် ငါနဲ့ ခွဲရတော့မှာပါ" ဟု မင်းသားကြီး ဘိုလကွန်စကီ တွေးလျက်ရှိလေသည်။ သို့ဖြင့် မင်းသားကြီး ဘိုလကွန် စကီသည် နှုတ်ခမ်းကို ကိုက်လိုက်ပြီး နောက် အကြိမ်နှစ် သောင်းမြောက် ကြိုးစား၍ ခြေထောက်များကို ခုတင်ပေါ် သို့ တင်လိုက်လျက် လှဲချလိုက်လေသည်။ သို့ရာတွင် ခုတင်ပေါ်သို့ လှဲလိုက်သည်နှင့် တစ်ပြိုင်နက် ခုတင်သည် အသက်ပြင်းစွာရှူလျက်ရှိသကဲ့သို့ ရှေ့တိုးနောက်ငင် လှုပ် ရှားနေသည်ဟု ထင်မိပြန်သည်။ ၎င်းအဖို့ ညအိပ်ရာဝင် တိုင်း ဤသို့ချည်း ဖြစ်ရလေသည်။ မင်းသားကြီး ဘိုလကွန် စကီသည် ပိတ်လုဆဲ မျက်လုံးများကို ပြန်၍ဖွင့်လိုက်ပြန် သည်။

။ "အင်း ဒုက္ခ ဒုက္ခ၊ အိပ်တဲ့နေရာမှာတောင် ငြိမ်း ချမ်းခြင်းကို မရပါကလား" ဟု ရေရွတ်လိုက်ကာ အလိုလို ဒေါသထွက်လာပြန်သည်။ "အို အိပ်ရာထဲ ရောက်

ခါမှ အရေးအကြီးဆုံးကိစ္စကို မေ့နေပြန်ပါပြီ၊ တံခါးမင်းတုပ် 'တွေ့ဝယ်ဖို့ မမှာရ သေးဘူးထင်တယ်၊ အို မဟုတ်ပါဘူး၊ မှာပြီးပါပြီ၊ ဧည့်ခန်းဆောင်ထဲမှာ ပစ္စည်းတစ်ခု မေ့ကျန် ရစ်ခဲ့တယ်ထင်တယ်။ သမီးတော်ကလဲ ပြောလိုက်ရင် အဓိပ္ပာယ်မရှိတဲ့ စကားချည်းပဲ၊ ဒီဆေးလ်ဆိုတဲ့ကောင် ကလဲ ဘာစကားတွေပြောမှန်း မသိဘူး၊ အလို ငါ့အင်္ကျီ အိတ်ထဲမှာ ဘာထည့်ထားမိပါလိမ့်၊ မေ့နေပြီ" ဟု တွေး လျက် ရှိသည်။

"တီကွန် ညစာစားတုန်းက တို့ ဘာတွေပြောခဲ့ သလဲ"

"မှန်ပါ မင်းသားကြီး မိုက်ကယ်အကြောင်း"

"တိတ်စမ်း၊ တိတ်စမ်း" မင်းသားကြီး ဘိုလကွန် စကီသည် စားပွဲကို လက်ဖြင့်ပုတ်၍ အော်လိုက်သည်။ "ငါ သတိရပြီ၊ အင်ဒရေရဲ့ စာအကြောင်း မဟုတ်လား၊ သမီးတော် ဖတ်ပြတယ်လေ၊ ဒီဆေးလ်ကတောင် ဗီတက် မြို့နဲ့ပတ်သက်လို့ ပြောသေးတယ်၊ အဲဒီစာကို ငါ ခု ဖတ် ချင်တယ်"

မင်းသားကြီးဘိုလကွန်စကီသည် အိတ်ထဲမှ စာ ကို ထုတ်ယူလိုက်သည်။ ထို့နောက် လိမ္မော်ယမကာရည် ပုလင်းနှင့် ပျားဖယောင်းတိုင်တင်ထားသော စားပွဲငယ် ကို အိပ်ရာအနီးသို့ တိုးစေကာ မျက်မှန်ကို တပ်ပြီးနောက်  စာဖတ်ပြန်သည်။ ယခုကဲ့သို့ တိတ်ဆိတ်လျက်ရှိသော အကာလညအချိန်၌ အစိမ်းရောင်လင်းကာ လကြေးပြား အောက်ရှိ မီးရောင်မှိန်မှိန်တွင် ဖတ်ရသည့်အခါကျမှ မင်း သားကြီး ဘိုလကွန်စကီသည် စာတွင် ဖော်ပြထားသည့် အဓိပ္ပာယ်များကို သဘောပေါက် လာတော့သည်။

"ပြင်သစ်တပ်တွေ ဗီတက်ကို သိမ်းပြီးပြီ၊ နောက် လေးရက်လောက်ဆိုရင် စမိုးလင့်ကို ရောက်မယ်ဆိုပါ ကလား၊ ခုလောက်ဆို ရောက်များ ရောက်နေကြပလား"

မင်းသားကြီး ဘိုလကွန်စကီသည် ဤသို့တွေးမိ ကာ "တီကွန်" ဟု ရုတ်တရက်ခေါ်လိုက်သည်။ တီကွန် သည် ရုတ်တရက် ထလိုက်၏။

"ဘာလို့ ထခုန်ရတာလဲကွ၊ ငါ ဘာမှ ခိုင်းမလို့ မဟုတ်ဘူး"

မင်းသားကြီးဘိုလကွန်စကီသည် စာကို ဖယောင်း တိုင်တင်ခုံအောက်၌ ဖိထားလိုက်ပြီး မျက်လုံးများကို မှိတ်လိုက်သည်။ ၎င်း၏မျက်စိထဲ၌ နေရောင်တောက်ပ သော မွန်းတိမ်းအချိန်တွင် တသွင်သွင်စီးဆင်းနေသော ဒင်ညုမြစ်ကြီးကို လည်းကောင်း၊ မြစ်စပ်ကိုင်းတော ကျူ တောများကိုလည်းကောင်း၊ ရုရှားတပ်စခန်းကို လည်း ကောင်း၊ နီရဲသောမျက်နှာပြင်တွင် အရေးအတွန့်များ မထင်သေးဘဲ ဖျတ်လတ်နုပျိုသော ဗိုလ်ချုပ်တစ်ဦးအဖြစ် မိမိကိုယ်တိုင် အမှုထမ်းခဲ့ပုံကို လည်းကောင်း၊ တပ်စခန်း ရှိ စစ်သေနာပတိချုပ်ကြီး ပိုတင်ကင်၏ ရွက်ထည်တဲထဲ သို့ ဝင်လာပုံကိုလည်းကောင်း၊ ဗိုလ်ချုပ်ကြီး ပိုတင်ကင်ကို အားကျခဲ့ပုံများကို လည်းကောင်း ပြန်လည်၍ မြင်ယောင် လာလေသည်။ ဗိုလ်ချုပ်ကြီးပိုတင်ကင်နှင့် စကားပြောခဲ့ပုံ ကိုလည်း ပြန်၍အမှတ်ရလာသည်။ မိမိအား ဖူးမြော်ခစား ခွင့်ပေးခဲ့စဉ်က တွေ့ရသောရွှေနန်းရှင် မယ်တော်ဖုရား၏ နူးညံ့ပျော့ပျောင်း၍ ကြံ့ခိုင်သော ကိုယ်ဟန်နှင့် တကွ ဖြူ ဝင်းသောမျက်နှာပေါ်မှ အပြုံးကိုလည်း မြင်ယောင်လာသည်။ ထို့နောက် ရွှေနန်းရှင် မယ်တော်ဖုရား နတ်ရွာစံ၍ အလောင်းတော်ကို ပြင်ဆင်ထားစဉ် နောက်ဆုံးသွား ရောက် ခစားခဲ့ပုံ၊ အလောင်းတော်၏ဘေးတွင် မိမိနှင့် ဗိုလ်ချုပ်ဇူးကော့ဗ်တို့ ရွှေနန်းရှင် မယ်တော်ဖုရား၏လက် ကို နမ်းရှုပ်ခွင့်ရခဲ့ပုံတို့ကိုလည်း သတိရလာသည်။

"အိမ်း မြန်မြန်ရောက်ပါတော့၊ မြန်မြန်ရောက်ပါ တော့၊ ခုပစ္စက္ခုအချိန်တွေ မြန်မြန်ကုန်ပြီး အဲဒီတုန်းက အချိန်တွေကို မြန်မြန်ရောက်ပါတော့၊ အဲဒီတုန်းက ငြိမ်း ချမ်းခြင်းမျိုးတွေ မြန်မြန်ရောက်ပါတော့"

# အခန်း ၄

မင်းသားကြီးဘိုလကွန်စကီ၏ ပိုင်စားနယ်မြေဖြစ်သော “တောင်ကတုံး” ဒေသသည် စမိုးလင်အရှေ့ဘက် မိုင်လေး ဆယ်အကွာ၊ စမိုးလင့်မှ မော်စကိုမြို့သို့ သွားသော ပေ ( တစ်ရာလမ်းမကြီး၏အတွင်းဘက် နှစ်မိုင်အကွာတွင် တည် ရှိ လေသည်။

မင်းသားကြီးဘိုလကွန်စကီက အယ်ပါတစ်အား စမိုးလင့်သို့သွားရောက်၍ ပစ္စည်းများဝယ်ယူရန် အမိန့်ပေး သည့်နေ့ညနေတွင် ဒီဆေးလ်သည် မင်းသမီး ကလေး မေရီအား တွေ့ဆုံခွင့်တောင်းကာ မင်းသားကြီးမှာ ကောင်း စွာကျန်းမာ ခြင်း ရှိဟန်မတူကြောင်း၊ မင်းသားကလေး အင်ဒရေ၏စာအရ “တောင်ကတုံး” စံ အိမ်တွင် ဆက်လက် နေထိုင်ခြင်းမှာ အန္တရာယ်များလှကြောင်းကို သိရှိနေရပြီ ဖြစ်သည့်တိုင်အောင် မင်းသားကြီးသည် မိမိလုံခြုံရေးနှင့် ပတ်သက်၍ မည်သို့မျှ ပြင်ဆင်ခြင်း မရှိသေးကြောင်းတို့ ကို ပြောဆိုလျက် စစ်အခြေအနေနှင့်တကွ “တောင်ကတုံး” တွင် ဆက်လက်နေထိုင်ခြင်းဖြင့် လုံခြုံခြင်း ရှိ မရှိကို ( မင်းသမီး ကလေး မေရီအနေဖြင့် စမိုးလင့် မြို့ဝန်ထံသို့ စာရေး၍ မေးမြန်းသင့်ကြောင်းဖြင့် အကြံပေးခြင်း ပြုလေ သည်။ ထိုစာကို ဒီဆေးလ်သည် ၎င်းကိုယ်တိုင်ရေး၍ မင်းသမီးကလေး မေရီအား လက်မှတ်ထိုးစေသည်။ ထို့ နောက် အယ်ပါတစ်လက်ထဲသို့ ထည့်လိုက်ကာ စမိုးလင့် မြို့ဝန်ထံ ကိုယ်တိုင်သွားရောက်ပေးရမည် ဖြစ်ကြောင်း နှင့် အခြေအနေထူးက ချက်ချင်းပြန်လာခဲ့ရန်ကိုလည်း ညွှန်ကြားချက်ပေးလိုက်သည်။

အားလုံးပြင်ဆင်ပြီးသည့်နောက် အယ်ပါတစ် သည် မင်းသားကြီး ဘိုလကွန်စကီက စွန့်ကြဲထားသည့် ( အဖြူရောင်ဖျံရေဦးထုပ်ကိုဆောင်းလျက် မင်းသားကြီး ကို သို့ပင် တုတ်ကောက်ကိုကိုင်ကာ ၎င်း၏လူသိုက်နှင့်အတူ စံအိမ်တော်ရှေ့သို့

ရောက်လာလေသည်။ သားရေပေါင်း မိုး မိုးထား၍ မြင်းနီပြောက်ကြီးသုံးကောင် ကသည့်ရထား ကြီးသည် အဆင်သင့်စောင့်လျက်ရှိ၏။

ရထားတွင် တပ်ထားသည့် အကြီးဆုံး ခြုံကြီး တစ်လုံးကို အဝတ်ဖြင့်ပတ် ထားပြီး မြင်းများတွင် တပ် ထားသည့်ခြူကလေးများကိုကား စက္ကူများ ဆို့ ထား၏။ မင်းသားကြီး ဘိုလကွန်စကီသည် ၎င်း၏ပိုင်စားနယ်မြေ ဖြစ်သော "တောင်ကတုံး" ဒေသတွင် မည်သည့်ရထားကိုမျှ ခြူသံပေး၍ မောင်းခွင့်မပြုချေ။ အယ်ပါတစ်မှာ ခရီးရှည် သွားသည့်အခါတွင် ခြူသံကိုကြားရမှ နေတတ်သူဖြစ် သည့်အတွက် ၎င်း၏ရထားတွင် ခြူများတပ်ထားခြင်း ဖြစ်၏။ အယ်ပါ တစ်၏အခြွေအရံများ ဖြစ်သော တာလီ စာရေး၊ မြင်းထိန်း၊ ထမင်းချက်၊ ထမင်းချက်၏ ကူဖော် လောင်ဖက် အစေခံမတစ်ဦး၊ အဘွားကြီးနှစ်ဦး၊ အခိုင်း အစေ သူငယ်ကလေးနှစ်ယောက်၊ ရထားသမားတစ်ဦး နှင့် အခြားအိမ်စေကျွန် များသည် အယ်ပါတစ်ကို နှုတ် ဆက်ရန် စံအိမ်တော်ရှေ့ ရောက်လာကြ၏။

အယ်ပါတစ်၏သမီးသည် ၎င်း၏ အဖေထိုင်ရန် အတွက် ပန်းပြောက် သရက်ထည်ဖုံးထားသော ထိုင်ဖုံမှို အုံးနှစ်လုံးကို ယူလာ၏။ အယ်ပါတစ်၏မရီး သည် အထုပ် ကလေးတစ်ထုပ်ကို လာပေးပြန်သည်။

"အဲဒါ မိန်းမတွေရဲ့ ဖျာလောင်ခတ်မှုတွေဗျ။ မိန်းမတွေရဲ့ ဖျာလောင်ခတ်မှု တွေ"

အယ်ပါတစ်သည် ၎င်း၏သခင် မင်းသားကြီး ဘိုလကွန်စကီပြောသကဲ့သို့ စကားကို ခပ်မြန်မြန်ပြောကာ ရထားပေါ်သို့ တက်လိုက်သည်။ . အယ်ပါတစ်သည် တာလီစာရေးအား ဆောင်ရွက် ရန်ရှိသည့်ကိစ္စများကို မှာကြားပြီးနောက် ၎င်း၏သခင် မင်းသားကြီးကို အတုယူခြင်းမရှိတော့ဘဲ ပြောင်တင်းလျက် ရှိသော ခေါင်းမှ ဦးထုပ်ကိုချွတ်ပြီးနောက် သုံးကြိမ်လက် ယှက်၍ ဆုတောင်းလိုက်သည်။

“အခြေအနေထူးရင် မြန်မြန်လာခဲ့နော် အယ်ပါ တစ်၊ အိမ်က သားမယား များလဲ သတိရဦး” အယ်ပါတစ် ၏ဇနီးက ရန်သူများချီတက်လာပြီဆိုသည့် သတင်းနှင့် စစ်သတင်းများကြောင့် သောကမအေးနိုင်ဘဲ ယောကျ်ား လုပ်သူကို သတိပေးလိုက်သည်။

“အဲဒါလဲ မိန်းမတွေရဲ့ ဖျာလောင်ခတ်မှုတွေပဲဗျ။ မိန်းမတွေရဲ့ ဖျာလောင် ခတ်မှုတွေ” အယ်ပါတစ်သည် တစ်ကိုယ်တည်းရေရွတ်ကာ ခရီးထွက်လာခဲ့၏။ လမ်းခရီးတစ်လျှောက်၌ ရွှေဝါရောင် ဝင်းမှည့်လျက်ရှိသော ဂျုံခင်းများ၊ မြရောင် ရှိန်းကာ စိမ်း စိမ်းစိုစိုဖြင့် ရှင်သန်လျက်ရှိကြသော မြင်းစားဂျုံခင်းများ၊ သီးထပ် စိုက်ရန် နောက်တစ်ကြိမ် ထယ်ထိုးပြီးစဖြစ်၍ မည်းနက်လျက်ရှိသော ယာခင်းများ ကို ကြည့်လိုက်ပါ လာ၏။

လမ်းခရီးတစ်လျှောက်တွင် အယ်ပါတစ်သည် အနံ့အောင်သော ပြောင်းခင်း များကိုကြည့်၍ ပီတိဖြစ်လျက် ရှိသည်။ ဟိုတစ်ကွက် သည်တစ်ကွက် ရိတ်သိမ်း ပြီးစ ဖြစ်သောဂျုံခင်းများကိုကြည့်၍ ကြည်နူးလျက်ရှိသည်။ ယခုနှစ် ပျိုးကြဲချိန်၊ ကောက်ရိတ်ချိန်ကိုလည်း စိတ်ထဲ တွင် ခန့်မှန်းတွက်ချက်လာခဲ့သည်။ မင်းသားကြီး မှာ လိုက်သည့်ကိစ္စများကို မေ့လျော့ခြင်းရှိမရှိကိုလည်း တွေး တော လာခဲ့လေသည်။

လမ်းတွင် မြင်းများကို နှစ်ကြိမ်မျှ အစာကျွေး၊ ရေတိုက်၍ ရပ်နားစေပြီး နောက် ဩဂုတ်လ ၄-ရက်နေ့ ညနေ ညီအစ်ကို မသိတသိအချိန်၌ အယ်ပါတစ် သည် စမိုးလင့်မြို့ထဲသို့ ဝင်လာခဲ့လေသည်။

စမိုးလင့်သို့ မရောက်ရှိမီ လမ်းတစ်လျှောက်၌ ဝန်တင်လှည်းများ၊ စစ်သား များကို မကြာခဏတွေ့ခဲ့ရ၏။ စမိုးလင့်မြို့များသို့ ကပ်လာသည့်အခါတွင် ခပ်ဝေး ဝေးမှ ပစ်ခတ်သံများကို ကြားရလေသည်။ သို့ရာတွင် အယ်ပါ ( တစ်သည် ထို

အသံများကို စိတ်မဝင်စားနိုင်ချေ။ အယ်ပါ တစ်၏စိတ်၌ ထူးဆန်းလျက်ရှိသည့် အခြင်းအရာကား အနှံအောင်လှသော မြင်းစားဂျုံခင်းကြီးတစ်ခင်းထဲ၌ စစ် တပ်ကြီးတစ်တပ် စခန်းချလျက်ရှိ၍ စစ်သားများက မြင်းစာကျွေးရန် ရိတ်ထားသည့် လက္ခဏာဖြင့် ထိုဂျုံခင်း ကြီးတစ်ခုလုံး မြင်မကောင်းအောင်ပျက်စီးကာ ပြောင်တလင်းခါနေခြင်းပင်ဖြစ်လေသည်။ လယ်သမားဖြစ်သော အယ်ပါတစ်သည် ထိုအခြင်းအရာကိုသာ စိတ်ဝင်စား လျက် ရှိလေသည်။ သို့ရာတွင် ခဏကြာလျှင် မိမိ၏ လာရင်းကိစ္စကို စဉ်းစားမိကာ ထိုအခြင်းအရာသည်လည်း ခေါင်းထဲမှ ပျောက်ကွယ်သွားလေသည်။

အယ်ပါတစ်သည် မိမိ၏ကိုယ်ရေးကိုယ်တာကိစ္စ အဝဝကို မေ့ပျောက်ကာ ကျွန်ယုံတော်ကြီးပီပီ မင်းသား ကြီး ဘိုလကွန်စကီ၏ဆန္ဒဟူသမျှကို ဖြည့်စွမ်းခဲ့သည်မှာ နှစ်ပေါင်းသုံးဆယ်ကျော်မျှ ကြာခဲ့လေပြီ။ ထိုနှစ်ပေါင်း သုံးဆယ်ကျော် အတွင်းတွင် မင်းသားကြီး၏အလိုဆန္ဒ တည်းဟူသော နယ်နိမိတ်မှ တစ်ရံတစ်ဆစ်မျှ ကျော်ထွက် ခဲ့ဖူးခြင်း မရှိသေးချေ။ မင်းသားကြီး ဘိုလကွန်စကီ၏ အမိန့်အတိုင်း ပြုမူဆောင်ရွက်ရမည့်ကိစ္စအဝဝနှင့် ပတ် သက်ခြင်းမရှိသောအရာဟူသမျှကို အယ်ပါတစ် စိတ် မဝင်စားရုံမျှမက ထိုအရာတို့သည် လောက၌ မတည်ရှိဟူ၍ပင် အယ်ပါတစ် ထင်မှတ်လေသည်။

ဩဂုတ်လ ၄-ရက်နေ့ ညနေမိုးချုပ်တွင် စမိုးလင့် မြို့သို့ ရောက်လာခဲ့ပြီးနောက် အယ်ပါတစ်သည် ဒနီးပါး မြစ်တစ်ဖက်ကမ်းရှိ ဂါဘီနာမည်သော ဆင်ခြေဖုံးရပ်ကွက် ကလေးတစ်ခုမှ ထမင်းဆိုင်ကလေးတစ်ဆိုင်တွင် တည်းခိုခြင်း ပြုလေသည်။ ထိုထမင်းဆိုင်ကလေးမှာ လွန်ခဲ့သော နှစ်ပေါင်းသုံးဆယ်လုံးလုံး စမိုးလင့်သို့လာတိုင်း အယ်ပါ တစ်တည်းခိုနေကျ ထမင်းဆိုင်ကလေးဖြစ်၍ ဖီရာပွန်တော့ ဆိုသူတစ်ဦး ပိုင်ဆိုင်လေသည်။ လွန်ခဲ့သောနှစ်ပေါင်း သုံးဆယ်က ဖီရာပွန်တော့သည် အယ်ပါတစ် အကြံပေး ချက်အရ မင်းသားကြီး ဘိုလကွန်စကီ

ထံမှ သစ်တော တစ်တောကို ဝယ်ယူခဲ့ကာ သစ်လုပ်ငန်းကို လုပ်ကိုင်ခဲ့ သည်တွင် ယခုအချိန်၌ အိမ်တစ်လုံး၊ ထမင်းဆိုင်တစ် ဆိုင်နှင့် ဂျုံဆိုင်တစ်ဆိုင်ကိုပိုင်ကာ ကြီးပွားလျက် ရှိလေ သည်။ ဖီရာပွန်တော့မှာ အသားညိုညို၊ မျက်နှာနီနီ၊ တုတ်တုတ်ခိုင်ခိုင်ဖြစ်၏။ နှာသီးပြားပြား၊ နှုတ်ခမ်းထူထူ၊ မျက်ခုံးမွေးကြီးကြီး၊ ဗိုက်ရွဲကြီးနှင့် အသက်လေးဆယ်ခန့် ရှိ လယ်သမားကြီး ဖြစ်လေသည်။

အယ်ပါတစ်၏လှည်း ဆိုင်ရှေ့သို့ရပ်လိုက်သော အချိန်တွင် ဖီရာပွန်တော့သည် ဖျင်အင်္ကျီကိုဝတ်၍ ဆိုင်ဝ တွင် မတ်တတ်ရပ်လျက် ရှိ၏။ အယ်ပါတစ်ကိုမြင်သည် ၌ ဖီရာပွန်တော့သည် လှည်းနားသို့ ရောက်လာလေသည်။

"လာပျို့ အယ်ပါတစ်၊ ခင်ဗျားကတော့ အဆန်း ပဲ၊ ဒီပြင်လူတွေက မြို့စွန်ကို စွန့်ပြေးတဲ့အချိန်မှာခင်ဗျား က မြို့ထဲ ဝင်လာသဗျ"

"ဘာဖြစ်လို့ ထွက်ပြေးကြတာလဲဗျ" အယ်ပါတစ် က မေးလိုက်သည်။

"သိပါဘူးဗျာ လူတွေကလဲ လူတွေပါပဲ၊ ပြင်သစ်   ကို ဒီလောက်ပဲ ကြောက်ရသတဲ့လား"

"အဲဒါလဲ မိန်းမတွေရဲ့ ဖျာလောင်ခတ်မှုတွေဗျ။ မိန်းမတွေရဲ့ ဖျာလောင်ခတ်မှုတွေ" အယ်ပါတစ်က ဆို၏။

""ဟုတ်လိုက်လေဗျာ၊ အလကား ကြောက်စရာ မရှိ ကြောက်နေကြတာ၊ တကယ်ဆိုရင် မြို့ဝန်ကလဲ မထိတ်ကြ မလန့်ကြဖို့ အမိန့်ထုတ်လိုက်ပါလားဗျ။ ဒီလို ရုတ်ရုတ်သဲသဲ ဘယ်ဖြစ်မလဲ၊ ခုတော့ တောက လယ် သမားကလဲ ဒီနားနဲ့ ဟိုနား လှည်းတိုက်ခဆိုပြီး တစ်ခေါက် ကို ငွေဒင်္ဂါးသုံးပြားတောင် တောင်းတယ်၊ မလွန်လွန်း ဘူးလား၊ ဒါ ခရစ်ယာန်ဘာသာဝင်တွေတဲ့လားဗျ"

အယ်ပါတစ်သည် ၎င်း၏စကားများကို နားကသာ ကြားသော်လည်း စိတ်မဝင်စားချေ။ အယ်ပါတစ်သည် မိမိအတွက် လက်ဖက်ရည်၊ မြင်းအတွက် မြက်ခြောက် စသည်တို့ကို တောင်း၏။ လက်ဖက်ရည်သောက်ပြီးသော် မောမောနှင့် အိပ်လေသည်။

ထိုနေ့ညတစ်ညလုံး စစ်တပ်များသည် ထမင်းဆိုင် ရှေ့မှဖြတ်၍ ချီတက်သွားကြ၏။ နောက်တစ်နေ့နံနက် ရောက်သော် အယ်ပါတစ်သည် မြို့သွားမှ ဝတ်လေ့ရှိ သော အပေါ်အင်္ကျီကိုဝတ်ဆင်ကာ ကိစ္စများကို ဆောင် ရွက်ရန်အတွက် မြို့ထဲသို့ ထွက်လာခဲ့၏။ ထိုနေ့နံနက်မှာ နေခြည်ပွင့်လျက်ရှိ၍ နံနက်ရှစ်နာရီထိုးလျှင်ပင် အတော် နေပြင်းလာခဲ့လေပြီ။ “ဒီလိုနေသာတဲ့နေ့မျိုး ကောက်ရိတ် လိုက်ရရင် ဘယ်လောက် အရသာရှိမလဲ” ဟုပင် အယ် ပါတစ် တွေးလိုက်မိသေးသည်။

နံနက်စောစောကတည်းက မြို့အစွန်ဆီမှ ပစ် ခတ်သံများကို ကြားနေရသည်။ နံနက်ရှစ်ချက်တီးလျှင် ကျည်တစ်လုံးထိုး သေနတ်ပစ်သံများအပြင် အမြောက် မြတပူပစ်ခတ်သံများကိုပါ ကြားလာရလေသည်။ လမ်းမ များပေါ်၌ကား မြို့သူ မြို့သားများသည် သုတ်သုတ်ဖျာဖျာ သွားလာလျက်ရှိကြ၍ စစ်သားများကိုလည်း ဥဒဟို တွေ့ ရ၏။ သို့ရာတွင် ယာဉ်ရထားများကား ခါတိုင်းကဲ့သို့ သွားမြဲ၊ ဈေးသည်များလည်း ဆိုင်များတွင် ရောင်းဝယ်မြဲ၊ သုခမ္မာဇရပ်များ၌လည်း ဝတ်ရွတ်မြဲပင် ရှိ၏။ အယ်ပါ တစ်သည် ဈေးသို့ ပထမသွား၍ ပစ္စည်းများကို ဝယ်၏။ ထို့နောက် အစိုးရရုံးများသို့ လည်းကောင်း၊ စာတိုက်သို့ လည်းကောင်း သွားကာ ပြုဖွယ်ကိစ္စများကို ဆောင်ရွက် ၏။ ထို့နောက် မြို့ဝန်၏စံအိမ်ဘက်သို့ လာခဲ့လေသည်။ ထို့နောက် အစိုးရရုံးများတွင်လည်းကောင်း၊ ဈေးဆိုင် များတွင်လည်းကောင်း၊ စာတိုက်တွင်လည်းကောင်း လူများ သည် ရုရှားတပ်မတော်ကြီး၏အကြောင်းနှင့်တကွ ရန်သူ တို့ မြို့စွန်ကို တိုက်ခိုက်လျက်ရှိပြီ ဖြစ်ကြောင်းကို ပြော ဆိုလျက်ရှိကြကာ မည်သို့မည်ပုံ စီစဉ်

ကြသည်ကို တစ် ယောက်နှင့် တစ်ယောက် မေးမြန်းစုံစမ်းလျက် ရှိကြ၏။ တစ်ယောက်ကို တစ်ယောက် အားပေးနှစ်သိမ့်နေကြခြင်း ကိုလည်း တွေ့ရ၏။

မြို့ဝန်၏စံအိမ်ရှေ့၌ လူများစုဝေးလျက်ရှိသည် ကို တွေ့ရ၍ မြို့ဝန်စီးသည့် ခရီးရှည်သွား ကရထားကြီး ကိုလည်း တွေ့ရလေသည်။ စမုတ်ဆောင်အောက်တွင်တော့ လူကုံထံနှစ်ဦးကို တွေ့ရ၏။ တစ်ယောက်မှာ ရဲ အရာရှိဟောင်းတစ်ယောက်ဖြစ်၍ ၎င်းကို အယ်ပါတစ် သိ၏။ ထိုသူသည် ဒေါသတကြီး စကားပြောလျက် ရှိသည်။

"ပေါ့ပေါ့ဆဆတော့ မအောက်မေ့နဲ့နော်၊ သား မယားမရှိ
တစ်ကိုယ်ရေတစ်ကာယဆိုရင်တော့ ဘာအရေး လဲ၊ စကားပုံထဲကလို "သေတစ်ယောက် ရှင်တစ်ယောက်" ပဲဗျ၊ ဒါပေမဲ့ ကျုပ်မှာက အိမ်သားက ဆယ့်သုံးယောက်ဗျ၊ ပစ္စည်းတွေကလဲ တစ်ပုံကြီးပဲ၊ ဒီပြင်သစ်ကောင်တွေ ကြောင့် ကျုပ်တို့အားလုံး ဒုက္ခရောက်ကုန်တော့မယ်။ မြို့ဝန်ဆိုတဲ့လူတွေက ဘာတွေလုပ်နေကြတာလဲ၊ ကြိုးစင် တင် သတ်ဖို့ပဲ ကောင်းတယ်" ။

"လာပါဗျာ ဒီလောက်ပြောရရင် ကျေနပ်ပါတော့၊ ကြားသွားရင် မကောင်းပါဘူး"

"အို ကြားတော့ ဘာသောက်ဂရုစိုက်ရမှာလဲ။ ကြားအောင်ပြောနေတာ၊ ခု ကျုပ်တို့ကို ခွေးသေကောင် ပစ်ထားခဲ့သလို ပစ်ထားလို့ ဘယ်သူခံနိုင်မလဲ" ရဲ အရာရှိ ဟောင်းသည် လှည့်၍ကြည့်လိုက်သဖြင့် အယ်ပါတစ်ကို မြင်သွား၏။

"ါ အယ်ပါတစ်ပါလား၊ ဒီလောက် ရုတ်ရုတ်သဲ သဲဖြစ်နေတဲ့အချိန်ကြီးမှာ ဘာကိစ္စလာရပြန်တာတုန်း"

“ကိုယ်တော်ကြီးအမိန့်အရ မြို့ဝန်နှင့် လာတွေ့ တာဗျ” အယ်ပါတစ်က မင်းသားကြီး ဘိုလကွန်စကီ၏ အမည်ကို ထုတ်ဖော်ပြောဆိုသည့်အခါတိုင်း ပြု လေ့ရှိ သည့်ထုံးစံအရ ခေါင်းကိုမော့၍ ရင်ကိုကော့ကာ ခပ်ကြွား ကြွား ပြောလိုက် သည်။ “ဒီကအခြေအနေ ဘယ်လိုရှိသလဲ ဆိုတာ ကိုယ်တော်ကြီးက စုံစမ်း ခိုင်းလိုက်လို့”

“ခင်ဗျားပဲ သွားပြီး စုံစမ်းချည်ဦး၊ ကျုပ်တို့တော့ ဒီကောင်တွေလုပ်ပုံ မဟုတ် တာနဲ့ သောက်ဒုက္ခရောက်ကုန် ပြီ၊ ပြောင်းဖို့ရွှေ့ဖို့လဲ လှည်းတောင် ငှားလို့မရ တော့ဘူး၊ ကြားလား။ အမြောက်သံတွေ နီးလာပြီ”

ရဲအရာရှိဟောင်းက အမြောက်သံများလာရာဘက် သို့ လက်ညှိုးထိုး၍ ပြော လိုက်၏။

“ဒီပြင်သစ်ကောင်တွေ ဖျက်လို့ ပျက်ရတော့မှာ တဲ့လားဗျ၊ သင်းတို့ကြောင့် ကျုပ်တို့ ဒုက္ခရောက်ရတော့ မှာတဲ့လား၊ ခေးပြတွေ ခေးပြတွေ” ရဲအရာရှိဟောင်း သည် မြည်တွန်ကြိမ်းမောင်း၍ စမုတ်ဆောင်လှေကားမှ ဆင်း သွားလေသည်။

အယ်ပါတစ်သည် ခေါင်းကိုဖြည်းလေးစွာယမ်းကာ စမုတ်ဆောင်လှေကား သို့ တက်လာ၏။ စမုတ်ဆောင်ထဲ ၌ကား ကုန်သည်များ၊ မိန်းမများ၊ အရာရှိ များသည် ( တစ်ယောက်ကို တစ်ယောက် တိတ်ဆိတ်စွာကြည့်၍ မြို့ဝန်နှင့် တွေ့ ခွင့်ရရန် စောင့်ဆိုင်းလျက်ရှိကြ၏။ မြို့ဝန် ၏ရုံးခန်းတံခါး ပွင့်လာသည့်အခါတွင် လူအုပ်ကြီးသည် ( မတ်တတ်ရပ်ကာ တံခါးနားသို့ စုပြုံလာကြလေသည်။ အခန်း ထဲမှ အရာရှိတစ်ယောက်ထွက်လာကာ ကုန်သည် တစ်ယောက်နှင့် တီးတိုး ပြောဆိုပြီးနောက် ရင်ဘတ်တွင် ဆုတံဆိပ်တော်ချိတ်ဆွဲထားသည့် ထောင်ထောင် မောင်း မောင်း အရာရှိတစ်ယောက်ကိုခေါ်ကာ မိမိအား တစ် ယောက်တစ်ပေါက် ဝိုင်းအုံမေးမြန်းကြသည်ကို စိတ်ရှုပ် ဟန်လက္ခဏာဖြင့် အခန်းထဲသို့ ဝင်ရောက်

ပျောက်ကွယ် သွား၏။ အယ်ပါတစ်သည် ရှေ့သို့တိုးလာခဲ့ကာ ထိုအရာရှိ နောက်တစ်ကြိမ်ထွက်လာသောအခါတွင် နှုတ်ဆက်ပြီး နောက် လက်တစ်ဖက်ဖြင့် အင်္ကျီအိတ်ထဲမှ စာနှစ်စောင် ကို ထုတ်ပေးလိုက်သည်။

““ဗိုလ်ချုပ်ကြီး မင်းသားကြီး ဘိုလကွန်စကီက မြို့ဝန်ကို ပေးလိုက်ပါတယ်” အယ်ပါတစ်က ခန့်ညား သောလေသံဖြင့် ပြောလိုက်သည့်အတွက် ထိုအရာရှိမှာ ( မနေသာတော့ဘဲ အယ်ပါတစ်လက်ထဲက စာနှစ်စောင်ကို လှမ်းယူလိုက်သည်။

ခဏကြာလျှင် မြို့ဝန်က အယ်ပါတစ်ကို ခေါ်ယူ တွေ့ဆုံကာ အကျိုးအကြောင်းကို ခပ်သုတ်သုတ်ပြောပြ လေသည်။

“ကိုယ်တော်ကြီးနဲ့ ထိပ်ထားလေးကို လျှောက် လိုက်ပါ၊ ကျုပ်လ် ဘာသတင်းမှ မသိရဘူးလို့၊ အထက်က ညွှန်ကြားချက်အတိုင်း လုပ်နေရတာပဲလို့ ၊ ဒါပေမဲ့” မြို့ ဝန်သည် စာရွက်တစ်ရွက်ကို လှမ်းပေးလိုက်၏။ “ဒါပေမဲ့ ကိုယ်တော်ကြီးက ကောင်းကောင်း ကျန်းမာတော်မူတာ မဟုတ်တဲ့အတွက် မော်စကို ကို ရွှေ့နေဖို့ အကြံပေးလိုက် တယ်လို့၊ ကျုပ်ကိုယ်တိုင်လဲ မော်စကို ကို ရွှေ့တော့မယ် လို့၊ ပြီးတော့”

မြို့ဝန်သည် စကားကို အဆုံးမသတ်ချေ။ ဖုန် အလိမ်းလိမ်းကပ်၍ ချွေးသံစို ရွှဲလျက်ရှိသော အရာရှိတစ် ယောက်သည် မြို့ဝန်၏အခန်းထဲသို့ ပြေးဝင်လာကာ ပြင်သစ်ဘာသာဖြင့် တစ်စုံတစ်ရာကို ပြောလိုက်၏။ မြို့ဝန်၏မျက်နှာပေါ်တွင် ကြောက်ရွံ့ ထိတ်လန့်သောအမူ အရာတို့ ပေါ်ပေါက်လာကြလေသည်။

“အဲ အဲဒါပဲပြောလိုက်တော့” မြို့ဝန်သည် အယ် ပါတစ်အား လှည့်၍ပြောလိုက်ပြီး အရာရှိကို မေးမြန်းစုံစမ်း လျက် ရှိလေသည်။

မြို့ဝန်၏ အခန်းမှ အယ်ပါတစ် ထွက်လာသော အခါ၌ အပြင်ခန်းတွင် စောင့်ဆိုင်းလျက်ရှိသူများသည် ထိတ်လန့်တုန်လှုပ်၍ ခိုကိုးရာမဲ့ဖြစ်လျက် စူးစမ်းသော မျက်လုံးများဖြင့် အယ်ပါတစ်ကို လှမ်းကြည့်ကြ၏။ အမြောက်ပစ်ခတ်သံများမှာ ပို၍နီးလာကာ ပို၍မြည်ဟည်း လာခဲ့လေပြီ။ အယ်ပါတစ်သည် အမြောက်သံများကို မသိ မသာနားထောင်ရင်း တည်းခိုရာ ထမင်းဆိုင်သို့ ပြန်လာ ခဲ့သည်။ မြို့ဝန်က အယ်ပါတစ်လက်သို့ ပေးလိုက်သည့် တရွက်၌ အောက်ပါအတိုင်း ပါရှိလေသည်။

"ယခုအချိန်၌ စမိုးလင့်မြို့အတွက် စိုးရိမ်ဖွယ် အန္တရာယ်ရှိမည်မဟုတ်သေးကြောင်း နောင်တွင်လည်း အန္တရာယ်တစ်စုံတစ်ရာ ကျရောက်ဖွယ် မရှိကြောင်း မြို့ဝန်မင်း သိစေအပ်သည်၊ ကျွန်ုပ်၏တပ်တော်နှင့် မင်းသားကြီးဘာဂရေးရှင်း၏ တပ်တော်တို့ ကြောင်းနှစ်ကြောင်းဖြန့်၍ အပြင်းချီတက်လာကြကာ မိုးလင့်တွင် တပ်များကို စုပေါင်းမည် ဖြစ်သည်။ ကျွန်ုပ်တို့တပ်တော်နှစ်တပ်သည် မတ်လ၂၂-ရက်နေ့၌ စမိုးလင့်သို့ ရောက်ကြမည်။ ကျွန်ုပ်တို့ တပ်တော်ကြီး နှစ်တပ်သည် အဖနိုင်ငံတော်ကြီး၏ရန်သူများကို အပြီး အပိုင် ချေမှုန်းသုတ်သင်ပြီးစီးသည်အထိ သို့မဟုတ် ကျွန်ုပ်တို့၏ သူရသတ္တိပြောင်မြောက်သော စစ်သည် တော်များ တစ်ယောက်မကျန် ကျဆုံးသည်အထိ မြို့ဝန် မင်း အုပ်ချုပ်ကွပ်ကဲလျက်ရှိသော နယ်သူနယ်သား တို့၏ အသက်စည်းစိမ် အိုးအိမ်ကို အကာအကွယ် ပေးမည်ဖြစ်သည်။ သူရသတ္တိအရာတွင် ပြောင်မြောက် သည့် တပ်တော်ကြီးနှစ်တပ်က ကြံ့ကြံ့ခိုင်ခိုင် ခုခံ ကာကွယ်မည် ဖြစ်သည့်အလျောက် စမိုးလင့်နယ်သူ နယ်သားများက ယခင်ကကဲ့သို့ အခြေအနေမပျက် ဆက်လက်နေထိုင်ကြစေရန် ကောင်းစွာစီရင် အုပ်ချုပ် ရမည်ဖြစ်ကြောင်း ညွှန်ကြားလိုက်သည်။

(တပ်မတော်် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ဘာကလေဒီတိုလီထံမှ စ မိုးလင်းမြို့ဝန် နယ်စားကြီးအက်ရှ် ထံသို့ အမိန့်ပြန်တမ်း၊ ၁၈၁၂-ခုနှစ်။) လမ်းမများ ပေါ်၌ကား မြို့သူမြို့သားတို့သည် ဥဒဟိုသွားကာ လှုပ်ရှားလျက်ရှိကြ၏။

အိုးခွက်များ၊ ကုလားထိုင်များ၊ ကြောင်အိမ်များ စသည့် အိမ်ထောင်ပရိဘောဂများ အပြည့်အသိပ် တင် ဆောင်လာသည့် လှည်းများသည် လမ်းမများပေါ်၌ မောင်း နှင်လျက်ရှိကြ၏။ ဖီရာပွန်တော့၏ ထမင်းဆိုင်နှင့်ကပ် လျက် အိမ်တစ်အိမ်ရှေ့၌ ဝန်အပြည့်တင်ထားသောလှည်း များ ရပ်ထားကာ မိန်းမ များသည် ငိုကြွေးလျက် ရှိကြ သည်။ ခွေးငယ်တစ်ကောင်သည် လှည်းတွင်တပ် ထားသော မြင်းများကို ကွေ့ပတ်ဟောင်လျက်ရှိသည်။

" အယ်ပါတစ်သည် ထမင်းဆိုင်ဝင်းထဲသို့ ခပ်သုတ် သုတ်လျှောက်လာခဲ့ပြီး နောက် ၎င်း၏လှည်းဖြုတ်ထားရာ ဇောင်းထဲသို့ ဝင်သွားခဲ့လေသည်။ လှည်းသမား မှာ အိပ် ပျော်လျက်ရှိ၏။ အယ်ပါတစ်သည် လှည်းသမားကို နှိုးကာ လှည်းတပ်ရန် ပြောခဲ့ပြီးနောက် ထမင်းဆိုင်ထဲသို့ ပြန်လာ ခဲ့သည်။ ထမင်းဆိုင်ရှင်၏အခန်းထဲမှ ကလေးငိုသံ၊ မိန်းမ တစ်ယောက်၏ငိုရှိုက်သံနှင့် ဖီရာပွန်တော့၏ ဆူပူကြိမ်း မောင်းသံကို ကြားရ၏။ အယ်ပါတစ်ဝင်လာသည့် အချိန် ၌ ထမင်းချက်မိန်းမကြီး သည် ကြောက်လန့်လျက်ရှိသော ကြက်မတစ်ကောင်ကဲ့သို့ ဆောက်တည်ရာမရ ဘဲ ထိုမှ ဤမှ ကူးချည်သန်းချည် ပြုလျက်ရှိသည်။

"ဆိုင်ရှင်မိန်းမတော့ သေတော့မှာပါပဲ၊ ရိုက်ရုံနဲ့ အားမရသေးဘူး၊ ကန်လိုက် ကျောက်လိုက်သေးတယ်" ထမင်းချက်မိန်းမကြီးက ဆို၏။

"ဘာဖြစ်လို့လဲ" အယ်ပါတစ်က မေးလိုက်သည်။

"မိန်းမက တခြားကို ရှောင်ချင်တယ်၊ မိန်းမသား ဆိုတော့လဲ ကြောက်မှာ ပေါ့၊ "ကျွန်မတော့ ဒီမှာ မနေရဲ တော့ဘူး၊ ကလေးကလဲ ရှိသေးတယ်၊ တခြားလူ

တွေလဲ ပြေးကုန်ကြပြီ။ ကျွန်မတို့လဲပြေးရအောင်”လို့ မိန်းမက ပူဆာတာနဲ့ မိန်းမကိုမဲပြီး ရိုက်တော့တာပဲ”

အယ်ပါတစ်သည် ခေါင်းတဆတ်ဆတ်ညိတ်ပြီး နောက် နောက်ထပ် မကြားလိုတော့သည့်ဟန်ဖြင့် မိမိ၏ ပစ္စည်းများထားရာအခန်းထဲသို့ ဝင်လာခဲ့၏။

“ရှင် ကျုပ်တို့ကို သတ်မလို့လားဟင်၊ သေစေချင် လို့လား” ဖြူရော်သော အသားအရေ ပါးလျသောခန္ဓာ ကိုယ်နှင့် မိန်းမတစ်ယောက်သည် ကလေးငယ်ကို ပွေ့ချီ ကာ ဖီရာပွန်တော့၏အခန်းထဲမှ ထွက်လာရင်း အော် လိုက်ပြီးနောက် အောက်ထပ်သို့ ဆင်းသွား၏။

ဖီရာပွန်တော့သည် နောက်ကထွက်၍ လိုက်လာ ၏။ သို့ရာတွင် အယ်ပါတစ်ကို မြင်လိုက်သည်၌ ဖရိုဖရဲ ဖြစ်နေသော အဝတ်အစားနှင့် ဆံပင်ကိုပြင်၍ ဣန္ဒြေဆည် လိုက်ပြီးနောက် အယ်ပါတစ်အခန်းထဲသို့ ဝင်လာလေ သည်။

“ပြန်တော့မလား”

အယ်ပါတစ်သည် ၎င်း၏အမေးကိုလည်း မဖြေ၊ ၎င်းကိုလည်းမကြည့်ဘဲ အထုပ်အပိုးများကို ပြင်ဆင်နေရာ က အခန်းခကို မေးမြန်းလေသည်။

“ဖြည်းဖြည်းပေါ့ ဗျာ နေစမ်းပါဦး၊ မြို့ဝန်နဲ့ တွေ့ခဲ့သလား ဘာထူးသလဲ”

အယ်ပါတစ်က မြို့ဝန်၏စကားမှာ ရေရေရာရာ မရှိလှကြောင်း ပြန်ပြောလိုက်သည်။

“ခက်တာပဲဗျာ၊ ဒီမှာလဲ အလုပ်တစ်ဖက်နဲ့ဆို တော့ အလုပ်ကိုစွန့်ပြီး ဘယ့်နှယ်လုပ် သွားမလဲ၊ ဒိုရိုဂူ ဘွတ်ရွာလောက်ကလေးကို သွားချင်ရင်တောင် လှည်း တစ်စီးကို ဒင်္ဂါးခုနစ်ပြားလောက် တောင်းနေကြတယ်၊ ဒီလောက်မ

တရားသဖြင့် တောင်းတော့ ဘယ်ကောင်းမလဲ ဗျ၊ ခရစ်ယာန်အချင်းချင်းတွေကပဲ၊ ပြီးခဲ့တဲ့ ကြာသပတေး နေ့တုန်းက တချို့ ဈေးသည်တွေ ပွလိုက်ကြတာ၊ စစ်တပ်ကဝယ်လို့ ဂျုံတစ်အိတ်ကို ဒင်္ဂါးကိုးပြား ရလိုက်ကြသတဲ့၊ လက်ဖက်ရည် သောက်ဦးမလားဗျို့"

မြင်းများကို လှည်းတွင်တပ်လျက်ရှိသည့် အတောအ အတွင်း၌ အယ်ပါတစ်နှင့် ဖီရာပွန်တော့သည် လက်ဖက် ရည်သောက်ရင်း ဂျုံ ပြောင်းဈေး၊ ကောက်နှံအထွက် နှင့် ကောက်ရိတ်ဖို့ကောင်းသည့် ရာသီဥတုအကြောင်းကို ပြောဆိုလျက်ရှိကြ၏။

"အခြေအနေတော့ တဖြည်းဖြည်းကောင်းလာပါ လိမ့်မယ် ထင်ပါရဲ့" ဖီရာပွန်တော့သည် လက်ဖက်ရည် တတိယခွက်ကို ကုန်အောင်သောက်လိုက်ပြီးနောက် ထိုင် ရာမှ ထလိုက်သည်။

"အထက်က အမိန့်ကတော့ ပြင်သစ်တပ်တွေကို အပြင်းအထန်ခံရမယ်လို့ ကြားရတာပဲဗျ၊ ဟိုနေ့က ဗိုလ် ချုပ်ပလာတော့ရဲ့ တပ်နဲ့ တိုက်ပွဲဖြစ်လို့ ပြင်သစ်တွေကို မရီနာမြစ်ထဲ မောင်းချလိုက်တယ်လို့ ဆိုတာပဲ၊ တစ်နေ့ တည်းတင် ပြင်သစ်သောင်းရှစ်ထောင်ကျသတဲ့" ' အယ်ပါတစ်သည် အထုပ်အပိုးများကို စုဆောင်း ကာ ဝင်လာသောလှည်းသမားကို ကမ်းပေးပြီးနောက် ဖီ ရာပွန်တော့နှင့် စာရင်းရှင်းသည်။ ခြူသံ၊ ဘီးသံ၊ မြင်းခွာ သံများဖြင့် လှည်းတစ်စီးသည် ထမင်းဆိုင်ဝင်းအပြင်ဘက် သို့ မောင်းထွက်သွား၏။

အချိန်ကား ညနေစောင်းလျက် ရှိလေပြီ။ လမ်း တစ်ဝက်မှာ အိမ်ရိပ်များဖုံးလျက်ရှိပြီး တစ်ဝက်၌ နေ ရောင်ထိုးရိုက်လျက်ရှိ၏။ အယ်ပါတစ်သည် ပြတင်းမှ လှမ်း၍ အပြင်သို့ကြည့်လိုက်ပြီးနောက် တံခါးဆီသို့ ထွက်လာခဲ့သည်။ ထိုအခိုက် ရှီးခနဲမြည်သည့် ထူးဆန်း သောအသံကြီးတစ်ခုနှင့် အုန်းခနဲမြေကြီးပေါ်သို့ ကျလာ

သံ ကြီးတစ်ခုကို ကြားလိုက်ရသည်။ ထို့နောက် နားကွဲမတတ် မြည်ဟည်းသော ပေါက်ကွဲသံကြီးတစ်သံကို ကြားလိုက်ရ ကာ ပြတင်းတံခါးများသည် တဖျတ်ဖျတ် လှုပ်သွားကြ သည်။

အယ်ပါတစ်သည် လမ်းမသို့ ထွက်လာခဲ့၏။ လူနှစ်ယောက်သည် ၎င်း၏ရှေ့မှဖြတ်ကာ ဒနီးပါးမြစ် တံတားဆီသို့ ပြေးကြသည်ကို မြင်ရ၏။ ရွှီခနဲ မြည်သံများ၊ အမြောက်ကျည် အုန်းခနဲကျသံများ၊ မြို့ဘက်သို့ ကျလာသောအမြောက်ကျည်ဆန်များ၏ ပေါက်ကွဲသံများကို ဆူညီစွာကြားရလေသည်။ သို့ရာတွင် မြို့သူ မြို့သား များမှာကား မြို့ထဲတွင် ပေါက်ကွဲလျက်ရှိသော အသံများ ထက် မြို့ပြင်တွင်ပေါက်ကွဲလျက်ရှိသော အသံများကိုသာ အာရုံစိုက်လျက် ရှိကြသည်။ ထိုနေ့ညနေ လေးချက်တီး အချိန်မှစ၍ ပြင်သစ်တပ်များသည် နပိုလီယန်၏အမိန့်အရ အမြောက် မြတပူ အလက်တစ်ရာသုံးဆယ်ဖြင့် မြို့ကို သဲမဲမဲ ဝိုင်းအုံပစ်ခတ်နေကြခြင်း ဖြစ်လေသည်။ အစ ပထမ၌ မြို့သူ မြို့သားများသည် မိမိတို့မြို့အား အမြောက် များဖြင့် ပစ်ခတ်နေခြင်းကို မသိကြသေးချေ။

ပထမသော် မြို့သူ မြို့သားများသည် တအုန်းအုန်း ကျရောက်ပေါက်ကွဲလျက်ရှိသော အမြောက်ကျည် များ၊ မီးတောက်များကို အထူးအဆန်းသဖွယ်ကြည့်လျက် ကြ၏။ ဖိရာပွန်တော့၏မိန်းမသည် အငိုရပ်လျက် ဖောင်းထဲတွင် ကလေးငယ်ကိုချီ၍ ထိုင်နေရာမှ ဝင်းဝသို့ တက်လာကာ တအုန်းအုန်းပေါက်ကွဲသံများကို နားထောင်ရင်း လမ်းသွားလမ်းလာတို့ကို ငေးမောကြည့်ရှုနေသည်။

ထမင်းချက်နှင့် ဆိုင်ထိုင်သူလည်း ဝင်းပေါက်သို့ ရောက်လာကြသည်။ ၎င်းတို့အားလုံးသည် တအံ့တသြ ဖြစ်လျက်ရှိကာ ခေါင်းပေါ်မှ ဖြတ်သန်းသွားကြသော အမြောက်ဆန်များကို မော့ကြည့်လျက် ရှိကြသည်။ လမ်း ထောင့်၌ လူများသည် စုဝေးကာ တစ်ယောက်တစ်ခွန်း ပြောဆိုလျက်ရှိကြ၏။

“သောက်ကျိုးနည်း ပြင်းလိုက်တဲ့အရှိန်ဗျာ၊ အမိုး လန်ထွက်ပြီး မျက်နှာကြက်တွေ အပိုင်းပိုင်း ကျိုးကုန် တာပဲ” တစ်ယောက်က ဆို၏။

“ဝက်တူးထားတဲ့အတိုင်းပဲဗျာ၊ မြေကြီးတွေ ဖွားထွက်ပြီး ကျင်းကြီးဖြစ်နေလိုက်တာ မနည်းပါဘူး” တစ် ယောက်က ပြောသည်။

“ကံကောင်းလို့ပေါ့၊ ခင်ဗျားခုန်ပြီး ရှောင်လိုက် ၊ နို့မိုရင် တစ်ခါတည်း ကိစ္စ အချောပဲ” ပထမလူက ရယ်၍ ပြောလိုက်၏။

၎င်းတို့အနားသို့ လူများ စုဝေးလာကြကာ မိမိ အစားက အိမ်ပေါ်သို့ အမြောက်ကျည်များ ကျလာပုံကို  ပြောပြနေကြပြန်သည်။ ထိုအတောအတွင်း အမြောက် ဆန်များသည် ပိုမို၍ ထူထပ်စွာကျရောက်လာပြန်ရာ အချို့မှာ ကျည်လုံးများအတိုင်း တရှိုရှိုမြည်၍ ဖြတ်သန်း သွားကာ အချို့ကား အဆန်များအဖြစ် လွင့်စဉ်၍ တရှီးရှီး အော်မြည်လျက် ခေါင်းပေါ်မှ အဆက်မပြတ် ဖြတ်သန်း သွားကြ၏။ သို့ရာတွင် ခေါင်းပေါ်မှဖြတ်ရုံသာ ဖြတ်သန်း သွားပြီး အနီးသို့ကျရောက်ခြင်း မရှိချေ။ အယ်ပါတစ် ကား လှည်းပေါ်တွင် ရောက်နေလေပြီ။ ဖီရာပွန်တော့သည် ဝင်းဝတွင်ရပ်လျက်ရှိ၏။

“ဟေ့ သောက်ကန်းမ၊ ဘာကြည့်နေပြန်တာလဲ” ဖီရာပွန်တော့သည် အင်္ကျီလက်ကိုပင့်၍ လူစုစုရှိရာဘက်သို့ ထွက်သွားရန် ဟန်ပြင်လိုက်သည့် ထမင်းချက်မိန်းမကြီးကို ငေါက်လိုက်၏။

“မြည်လိုက်တဲ့ဟာကြီးတွေတော် သောက်ကျိုး နည်း” ထမင်းချက်မိန်းမကြီးက တအံ့တသြပြောလိုက်၏။ သို့ရာတွင် ဖီရာပွန်တော့က လှမ်းငေါက်လိုက်သဖြင့် ပင့် တင်ထားသောအင်္ကျီလက်ကိုဖြေချကာ ဆိုင်ဝသို့ ပြန်လှည့် လာသည်။

နောက်တစ်ကြိမ် ရှိခနဲမြည်သံကြီးကို ကြားလိုက် ရပြန်သည်။ ယခုတစ်ကြိမ်တွင် အသံသည် နီး၍လာကာ ငှက်တစ်ကောင် ပျံဆင်းလာသကဲ့သို့ အောက်သို့ စိုက်ကျ လာ၏။ လမ်းလယ်မှ မီးတောက်များပေါ်ထွက်လာကာ ပေါက်ကွဲသံကြီးကို ကြားလိုက်ရပြီးနောက် တစ်လမ်းလုံး မီးခိုးလုံးကြီးများ ဖုံးအုပ်သွားလေသည်။

"ဟေ့ကောင်မ ဘာလုပ်နေတာလဲ၊ သေချင်သလား" ဖီရာပွန်တော့သည် ထမင်းချက်မိန်းမကြီးကို အော်၍ပြော ကာ ၎င်းထံသို့ ပြေးလာလေသည်။

ထိုအချိန်၌ မိန်းမများ၏ ကယ်ပါယူပါ တစာစာ အော်ဟစ်သံများကား ပတ်ဝန်းကျင်တစ်ဝိုက်၌ ဆူညံ လျက် ရှိလေပြီ။ ကလေးငိုသံသည်လည်း ထွက်ပေါ်လာ ပြန်သည်။ ဖြူဖပ်ဖြူရော်ဖြစ်လျက်ရှိသော မျက်နှာများ ဖြင့် လူအုပ်ကြီးသည် ထမင်းချက်မိန်းမကြီး၏အနီးတွင် ဝိုင်းအုံလျက် ရှိလေပြီ။ ထမင်းချက်မိန်းမကြီး၏ငိုကြွေး သံသည် အသံပေါင်းစုံကိုဖောက်ထွင်း၍ ထွက်ပေါ်လာ သည်။

"ဘုရားသခင် ကယ်တော်မူပါ၊ သေရပါတော့ မယ်၊ ဘုရားသခင် ကယ်တော်မူပါ"

ငါးမိနစ်ခန့်ကြာသောအချိန်၌ လမ်းပေါ်တွင် လူ တစ်ယောက်မျှ မရှိတော့ချေ။ ထမင်းချက်မိန်းမကြီးမှာ အမြောက်ဆန်ထိမှန်ကာ ပေါင်တစ်ဖက် သွင်သွင်ကျိုး သွားသဖြင့် ၎င်းကို မီးဖိုထဲသို့ သယ်လာခဲ့ရ၏။ အယ်ပါ တစ်၊ ၎င်း၏လှည်းသမား၊ ဖီပွန်တော့၏ဇနီး၊ ကလေး များနှင့် အိမ်အစေခံတစ်ဦးတို့သည် မြေတိုက်ခန်းကလေး ထဲတွင်ထိုင်ကာ အပြင်ဘက်မှ အသံများကို နားစွင့်လျက် ရှိကြသည်။ အမြောက်မြတပူများ၏ မိုးချုန်းသကဲ့ သို့ မြည်ဟည်းသော ပစ်ခတ်သံများ၊ အမြောက်ကျည်များ တရှိုးရှိုး ဖြတ်သန်းသွားသံများ၊ အခြားအသံများထက် ကျယ်လောင်သော ထမင်းချက်မိန်းမကြီး၏ သနားစဖွယ် ညည်းညူသံ

များကို ကြားနေရ၏။ ဖီရာပွန်တော့၏မိန်းမ သည် ကလေးကို ရင်ခွင်တွင်ပိုက် ထားကာ မြေတိုက်ထဲ သို့ ဝင်လာသူတိုင်းထံ ၎င်း၏ယောကျာ်းအကြောင်းကို မေးမြန်းစုံစမ်းလျက်ရှိ၏။ မြေတိုက်ထဲသို့ ဝင်လာသော ဆိုင်ရောင်းသမားတစ် ယောက်ကမူ ဖီရာပွန်တော့မှာ တန်ခိုး ကြီးလှသော စမိုးလင့်စေတီတော်မှ ဆင်းတုတော်တစ်ဆူ ကို ပင့်ဆောင်ရန် လူတစ်အုပ်နှင့် စေတီတော်ဘက်သို့ ထွက် သွားကြောင်းဖြင့် ပြောဆိုလေသည်။

မိုးချုပ်စအချိန်လောက်၌ အမြောက်မြတပူ ပစ် ခတ်သံများ အတန်စဲ၍ သွား လေပြီ။ အယ်ပါတစ်သည် မြေတိုက်မှထွက်လာခဲ့၍ တံခါးဝတွင် ရပ်လိုက်သည်။ စောစောကကြည်လင်လျက်ရှိသော ကောင်းကင်ပြင်၌ မီးခိုး တို့ပိတ်ဖုံးလျက် ရှိ၏။ သို့ရာတွင် မီးခိုးလုံးများအလယ်၌ ကား တံစဉ်ကွေးသဖွယ်ရှိသော ဆန်းစလခြမ်း ကလေး သည် ခပ်မှိန်မှိန်လင်းလျက် ရှိလေ၏။ အသည်းထိတ်ဖွယ် ကောင်းလှ သော ပစ်ခတ်သံများ ရပ်စဲသွားပြီးသည့်နောက် ၌ တစ်မြို့လုံးသည် သုသာန် တစပြင်ကဲ့သို့ တိတ်ဆိတ် လျက်ရှိ၍ တစ်ခါတစ်ရံ၌သာ ပြေးလွှားသံများ၊ ညည်းညူ သံများ၊ ခပ်ဝေးဝေးမှ အော်ဟစ်သံများ၊ မြို့အနှံ့အပြား တွင် လောင်ကျွမ်းလျက်ရှိသော မီးတောက်များ၏ တဂျွမ်း ဂျွမ်းဝါးသံများကို ကြားရ၏။ ထမင်းချက်မိန်းမကြီး၏ ညည်းညူသံမှာ တိတ်ဆိတ်သွားလေပြီ။ မြို့ထိပ်တစ်ဖက် တစ်ချက်ရှိ မီးလောင်သောရပ်ကွက်များဆီမှ မည်းမှောင် သော မီးခိုးလုံးကြီး များသည် အလိပ်လိုက်တက်လာကြ၏။

အသက်  လမ်းမပေါ်၌ ဝတ်စုံအမျိုးမျိုးကို ဝတ်လျက်ရှိသော စစ်သား များသည် အုံပျက်၍ ထွက်လာကြသော ခြမျှားသဖွယ် ထိုမှ ဤမှ ဥဒဟိုပြေးလွှား လျက် ရှိကြ၏။ အချို့ကား အယ်ပါတစ်၏မျက်စိရှေ့မှာပင် ဖီရာပွန်တော့၏ အိမ် ဝင်း ထဲသို့ ပြေးဝင်လာကြသည်။ အယ်ပါတစ်သည် ဝင်းဝသို့ ထွက်လာခဲ့၏။

လမ်းမပေါ်၌ ဆုတ်ခွာလာသော တပ်ရင်း တစ်ရင်းကို တွေ့ရ၏။ တစ်လမ်းလုံး စစ်သားများဖြင့် ပိတ်ဆို့လျက်ရှိလေသည်။

အယ်ပါတစ်ကို မြင်သည်တွင် တပ်ဗိုလ်တစ် ယောက်က "ဟေ့လူ မြို့သူမြို့သားတွေ တစ်ယောက်မှ မရှိတော့ဘူး၊ ထွက်ပြေးကုန်ကြပြီ၊ သွားပါတော့လား၊ ဘာဖြစ်လို့ ချန်နေရစ်တာလဲ" ဟု လှမ်းပြောလိုက်သည်။ ထို့နောက် တပ်သားများဘက်သို့လှည့်ကာ "ဟေ့ အရေး ရှိရင် အိမ်ဝင်းတွေထဲ ပြေးဝင်" ဟု ပြောလိုက်သည်။

အယ်ပါတစ်သည် အိမ်ဆီသို့ ပြန်လာခဲ့၍ လှည်း သမားကိုခေါ်ကာ လှည်းကောက်ရန် ပြောလိုက်သည်။ ဖီရာပွန်တော့၏ အိမ်သားများသည် အယ်ပါတစ်နှင့် လှည်း သမားနောက်သို့ လိုက်လာကြလေသည်။ စောစောက တိတ်ဆိတ်လျက်ရှိသော မိန်းမများသည် ဆည်းဆာရောင် ထဲတွင် တောက်လောင်နေသော မီးတောက်များ၊ မီးခိုး များကိုမြင်သည့်အခါ၌ ငိုကြွေးကြပြန်သည်။ လမ်းပေါ်မှ ငိုကြွေးသံများထွက်ပေါ်လာကြပြန်ရာ ၎င်းတို့သည် အငို ပြိုင်ပွဲကြီးကျင်းပကဲ့သို့ ရှိကြ၏။ မြင်းဇောင်းထဲ၌ကား အယ်ပါတစ်နှင့် ၎င်း၏လှည်းသမားတို့သည် တုန်ယင်သောလက်များဖြင့် အထွေးထွေးဖြစ်နေသော မြင်းဇက် ကြိုးများ၊ ဝမ်းပတ်ကြိုးများကို ပြင်ဆင်လျက် ရှိကြလေ သည်။

အယ်ပါတစ်၏လှည်း ဝင်းဝအရောက်တွင် ဖီရာ ပွန်တော့၏ဈေးဆိုင်ထဲ၌ စစ်သားဆယ်ယောက်ခန့်တို့ သည် တစ်ယောက်တစ်ခွန်းဆူညံစွာ အော်ဟစ်ပြောဆို လျက်ရှိကြရင်း ဂျုံမုန့်များနှင့် နေကြာစေ့များကို ၎င်းတို့၏ အိတ်များထဲသို့ အပြည့်အသိပ်ထည့်လျက် ရှိကြ၏။ ထို အတောအတွင်း ဖီရာပွန်တော့ ပြန်ရောက်လာကာ ဆိုင် ထဲသို့ ဝင်လာလေသည်။ ၎င်း၏ဆိုင်ထဲမှ ပစ္စည်းများကို ယူငင်လျက်ရှိသည့် စစ်သားများအား မြင်သောအခါ ဖီရာ ပွန်တော့သည်

အော်ဟစ်မောင်းထုတ်မည် ပြုသေးသော်  လည်း မအော်တော့ဘဲ ၎င်း၏ဆံပင်ကို ဆောင့်ဆွဲကာ ငိုလိုက် ရယ်လိုက်ဖြင့် ကယောင်ကတမ်းဖြစ်လျက် ရှိသည်။

"ဟော့ ရဲဘော်တွေ အကုန်ယူ၊ အကုန်ယူ ပြင်သစ် ကောင်တွေဖို့ ချန်မထားခဲ့နဲ့ " ဖီရာပွန်တော့သည် ဤသို့ အော်ကာ ၎င်းကိုယ်တိုင် ဂျုံအိတ်များကို တစ်အိတ်ပြီး တစ်အိတ် မ,လာပြီးနောက် လမ်းမပေါ်သို့သွန်ပစ်လျက် ရှိလေသည်။

အချို့စစ်သားများကား ဖီရာပွန်တော့၏ ထူးဆန်း သောအမူအရာကို ကြောက်လန့်၍ ထွက်ပြေးကြ၏။ အချို့မှာ ဂျုံမှုန့်များကို အိတ်များထဲသို့ ထည့်မြဲ ထည့်နေ ကြလေသည်။ အယ်ပါတစ်ကို မြင်သောအခါ ဖီရာပွန် တော့သည် လှည့်၍

"ရုရှားပြည်ကြီး ပျက်ပြီဗျ၊ ပျက်ပြီ၊ အယ်ပါတစ် ဒီမှာကြည့်ဗျ၊ ကျုပ်ကိုယ်တိုင် ကျုပ်အိမ်နဲ့ ဈေးဆိုင် ကို မီးရှို့ပစ်မယ်ဗျ သိလား၊ ကျုပ်ကိုယ်တိုင် ကျုပ်အိမ်ကို မီးရှို့မယ်၊ အကုန်ပျက်စီးကုန်ပြီ၊ ဘာထူးသေးသလဲ" ဖီရာပွန်တော့သည် အိမ်ဝင်းထဲသို့ ပြေးဝင်သွားလေသည်။

စစ်သားများကား လမ်းမတစ်လျှောက်၌ ရေစီး ကြောင်းကြီး စီးဆင်းလာသကဲ့သို့ ဒလဟောဖြတ်သန်း ဆုတ်ခွာလျက်ရှိသည်။ တိုး၍မပေါက်နိုင်အောင် ပြည့်ကျပ် လျက်ရှိသဖြင့် အယ်ပါတစ်၏လှည်းသည် ဖြတ်၍မထွက် နိုင်သေးဘဲ စောင့်နေရ၏။ ဖီရာပွန်တော့၏အိမ်သားများ သည်လည်း လှည်းတစ်စီးဖြင့် လမ်းရှင်းမည့်အချိန်ကို စောင့်လျက်ရှိလေသည်။

ညဘက်သို့ ရောက်လာလေသည်။ ကောင်းကင် တွင် ကြယ်တို့ဝင်းလက်လျက်ရှိ၍ ဆန်းစလကလေးသည် ကောင်းကင်ကြီးကို ဖုံးကာထားသည့် မီးခိုးလုံးများကြားမှ မှိန်မှိန်လင်းလျက်ရှိ၏။ ဒနီးပါးမြစ်ကို ဖြတ်ကူးသည့် တံတားထိပ်တွင်ကား စစ်သားအုပ်ကြီးနှင့် အတူရောရော၍ ပါလာသည့် အယ်ပါတစ်၏လှည်းနှင့် ဖီရာ

ပွန်တော့တို့ အိမ်သားများစီးလာသည့်လှည်းသည် အချိန်အတော်ကြာ ရပ်နေရ၏။ ၎င်းတို့လှည်းများရပ်ထားရာ လမ်းဆုံအနီး တွင်ကား အိမ်တစ်အိမ်နှင့် ဈေးဆိုင်အချို့ မီးလောင်လျက် ရှိသည်။ မီးတောက်များသည် ငြိမ်းသွားကာ မီးခိုးလုံး များကြားတွင် ပျောက်ကွယ်သွားကြသည်။ တစ်ဖန် ဟုန်း နဲ့ပြန်၍တောက်လာပြန်ကာ လမ်းဆုံတွင် ရပ်လျက်ရှိသော   လူများ၏ မျက်နှာများကို အရောင်ဟပ်လိုက်ပြန်သည်။ မီးတောက်ရှေ့၌ လူးလာကူးသန်းလျက်ရှိသော လူရိပ် မည်းမည်းများကို မြင်ရ၍ မီးဝါးသံများအကြားမှလည်း ဆူညံစွာအော်ဟစ်ပြောဆိုသံများကို ကြားရလေသည်။ မိမိ၏လှည်းသည် ဤနေရာ၌ အတော်ကြာမျှရပ်၍ စောင့် နေရဦးမည်ဖြစ်သည့်အတွက် အယ်ပါတစ်သည် လှည်းပေါ် မှဆင်းကာ လမ်းမကြီးဘေးလမ်းကြားကလေးထဲသို့ မီးကြည့်ရန် ဝင်လာခဲ့၏။ ထိုအနီးတစ်ဝိုက်၌ စစ်သားများသည် သွားလိုက်ပြန်လိုက်ဖြင့် အလုပ်များလျက်ရှိကြ၏။ စစ်သားနှစ်ယောက်နှင့် ခါးတိုအင်္ကျီဝတ်လူတစ်ယောက် သည် မီးစွဲလျက်ရှိသော ထုပ်များ၊ လျောက်များကို ဆွဲ လာပြီး လမ်းတစ်ဖက်ရှိ အိမ်ဝင်းတစ်ခုထဲ၌ စုပုံလျက်ရှိ ကြ၍ အချို့ကမူ မီးလောင်လျက်ရှိသောအိမ်ထဲမှ မြက် ခြောက်များကို ဆွဲသယ်လာကြသည်။

အယ်ပါတစ်သည် တဂျွမ်းဂျွမ်းမီးလောင်လျက်ရှိ သော စပါးစည့်ကြီးအနီးတွင် ဝိုင်းအုံနေသည့် လူအုပ်ကြီး ထဲသို့ တိုးဝင်လာခဲ့၏။ စပါးစည့်နံရံများမှာ မီးစွဲလျက် ရှိကာ နောက်ဘက်ကနံရံမှာ ပြုတ်ကျသွားလေပြီ။ ထုပ် များတွင် မီးစွဲလျက်ရှိသဖြင့် အမိုးများလည်း တကျွတ်ကျွတ် မြည်ကာ ပြိုကျလျက်ရှိပြီ ဖြစ်လေသည်။ လူအုပ်ကြီး သည် တအိအိပြုတ်ကျနေသောအမိုးကို လှမ်းကြည့်လျက် ရှိကြ၏။ အယ်ပါတစ်သည်လည်း မီးစွဲလောင်လျက်ရှိ သော စပါးစည့်အမိုးကို လှမ်း၍ကြည့်နေသည်။

"အယ်ပါတစ်" နောက်မှ သူ ကြားဖူးသော အသံ တစ်သံ ထွက်ပေါ်လာ၏။

“အလို ကိုယ်တော်လေးပါကလား” အယ်ပါတစ် သည် ၎င်း၏သခင် မင်းသားကလေးအင်ဒရေ၏ အသံ ဖြစ်ကြောင်း ချက်ချင်းသိလိုက်ကာ လှည့်ကြည့် လိုက်သည်။

မင်းသားကလေး အင်ဒရေသည် မြင်းစီးဝတ်ရုံ ကြီးကိုဝတ်လျက် မြင်းနက် ကြီးတစ်ကောင်ကို စီးကာ လူအုပ်နောက်နားမှရပ်၍ အယ်ပါတစ်ကို စိုက်ကြည့် လျက် ရှိသည်။

“ဘယ့်နှယ်လုပ်ပြီး ဒီကို ရောက်လာတာလဲ”

“ကိုယ်တော် ကိုယ်တော်လေး၊ ကျွန်တော်တို့ ရှုံးပြီလားဟင်၊ ကျွန်တော်တို့ တကယ်ဆုတ်လာရပလား” အယ်ပါတစ်သည် စကားကို ပီသအောင်မပြောနိုင်ဘဲ ငိုလိုက်မိလေသည်။

“ဒီကို ဘာလုပ်လာတာလဲ” မင်းသားကလေး အင်ဒရေက မေးလိုက် ပြန်သည်။

ထိုအခိုက် မီးတောက်မှအရှိန်သည် လင်း၍လာ လေရာ အယ်ပါတစ်သည် အသားအရေဖြူဖျော့ကာ နား ထင်နားရင်းချောင်လျက်ရှိသော သခင်မင်းသား ကလေး အင်ဒရေ၏မျက်နှာကို မီးရောင်တွင် ထင်ရှားစွာမြင်လိုက် ရ၏။ အယ်ပါ တစ်က ၎င်းအား မင်းသားကြီးက စေခိုင်း လိုက်သဖြင့် ရောက်လာပုံ၊ အပြန် လမ်းပိတ်နေပုံတို့ကို ပြောပြသည်။

“ကျွန်တော်တို့တပ်တွေ တကယ်ရှုံးလာပြီပေါ့ ကိုယ်တော်လေး” အယ်ပါ တစ်က ထပ်မေးလိုက်သည်။

မင်းသားကလေး အင်ဒရေသည် အယ်ပါတစ်အား တစ်စုံတစ်ရာ ပြန်လည် ပြောဆိုခြင်းမပြုဘဲ အိတ်ထဲမှ မှတ်စုစာအုပ်ငယ်တစ်အုပ်ကို ထုတ်ကာ စာရွက်

တစ်ရွက် ကို ဆုတ်ဖြဲလိုက်ပြီးနောက် ဒူးပေါ်တွင်တင်၍ စာတစ် စောင်ကိုရေး လျက် ရှိ၏။ အစ်မတော် မင်းသမီးကလေး မေရီထံသို့ရေးခြင်း ဖြစ်လေသည်။

"ကျွန်တော်တို့ တပ်တော်များ စမိုးလင့်မှ ဆုတ်ခွာ လာရပြီ၊ တောင်ကတုံး ကို ရန်သူတို့ ရက်တစ်ပတ် အတွင်း သိမ်းလိမ့်မည်၊ ဤစာရက ချက်ချင်း မော်စကို သို့ ပြောင်းပါ၊ မည်သည့်ရက်တွင် မော်စကိုသို့ ပြောင်းမည် ကို အကြောင်းကြားပါ၊ ကျွန်တော် ဥဇဗျတ်တွင် တပ် စခန်းချနေမည်၊ ထိုနေရာသို့ လူလွှတ်၍ အကြောင်း ကြားပါ။"

မင်းသားကလေးအင်ဒရေသည် ဤစာကို ရေးပြီး နောက် အယ်ပါတစ်ကို ပေးကာ ခမည်းတော်မင်းသား ကြီး၊ အစ်မတော်ထိပ်ထား၊ မိမိသားငယ်နှင့်တကွ စာပြ ဆရာ ဒီဆေးလ်တို့ မော်စကိုသို့ ပြောင်းရွှေ့ရန် မည်သို့ မည်ပုံစီစဉ်ရမည် ဖြစ်ကြောင်း၊ မိမိအား မည်သို့မည်ပုံ အကြောင်းကြားရမည်ဖြစ်ကြောင်းတို့ကို အယ်ပါတစ် အား ပြောဆိုလျက်ရှိ၏။ ဤသို့ညွှန်ကြားနေသည့် အတော အတွင်း၌ နောက်လိုက်နောက်ပါတို့ ခြံရံလာသော စစ်ဦး စီးမှူးတစ်ယောက်သည် ၎င်းတို့ အနီးသို့ မြင်းကို ဒုန်းစိုင်း ၍ ရောက်လာသည်။

"ဟော့လူ ခင်ဗျား ဗိုလ်မှူးကြီးတစ်ယောက် မဟုတ် . လား" ထိုစစ်ဦးစီးမှူး က မင်းသားကလေးအင်ဒရေကို ဂျာမန်သံဝဲဝဲ ဖြင့် လှမ်းမေးလိုက်သည်။ ထိုအသံ ကို မင်း သားကလေးအင်ဒရေ ကြားဖူးသည်ဟု ထင်၏။ "ဗိုလ်မှူး ကြီးတစ် ယောက် လုပ်နေရက်နဲ့ အိမ်တွေ မီးတဟုန်းဟုန်း တောက်နေတာကို ဒီအတိုင်း ကြည့်နေရလားဗျ၊ ဘာ သဘောလဲ၊ ဒုက္ခရောက်သွားချင်သလား"

ထိုသူကား ပထမတပ်မတော်၏ ခြေလျင်တပ် လက်ဝဲတောင်ပံ တပ်မှူးချုပ် တစ်ဦးဖြစ်လျက်ရှိသူ ဘာ့ဂ် ပေတည်း။

ဂ်သည် “သွားရည်ကျဖို့ ကောင်းသည့် ရာထူး တစ်ခု ဖြစ်သည်ဟု သူ ကိုယ်တိုင်ပြောခဲ့သော ရာထူးကြီး ကို ရလျက် ရှိလေသည်။

မင်းသားကလေး အင်ဒရေသည် ဘာ့ဂ်ကို တစ် ချက်မျှသာ လှမ်းကြည့်လိုက် ပြီးနောက် မည်သို့မျှ ပြန် လည်ပြောဆိုခြင်းမရှိဘဲ အယ်ပါတစ်ကိုသာ မှာကြား စရာ ရှိသည်များကိုသာ မှာကြားနေသည်။

“အဲဒီတော့ ၁၀ ရက်နေ့အထိ သူတို့ဆီက အကြောင်းကြားချက်ကို စောင့် မယ်၊ ၁၀ ရက်နေ့ထိအောင် သူတို့ မော်စကိုကို ပြောင်းပြီဆိုတဲ့ သတင်းမရသေး ဘူး ဆိုရင် ကျုပ် ဒါတွေအကုန်ပစ်ပြီး တောင်ကတုံးကို လိုက် ခဲ့မယ်လို့ ပြောလိုက် ဟုတ်လား”

“ဟင် ကိုယ်တော်လေး” ဘာ့ဂ်က မင်းသား ကလေးအင်ဒရေကို ခေါ် လိုက်၏။ “ကျွန်တော် တာဝန် အရမို့ ပြောရတာပါ ကိုယ်တော်လေး၊ စိတ်မရှိပါနဲ့ ကျွန်တော် တောင်းပန်ပါတယ်” ဘာ့ဂ်သည် မင်းသား ကလေး အင်ဒရေကို တောင်းပန်နေသည်။

မီးတောက်ထဲမှ တထိန်းထိန်း ပေါက်ကွဲသံများ ကို ကြားရ၏။ မီးတောက် များသည် ခေတ္တမျှ အရှိန်သေ သွားကြကာ စပါးစည့်အမိုးအောက်မှ မီးခိုးလုံးကြီး အူ ထွက်လာ၏။ ခဏကြာလျှင် ကြီးမားသော အရာကြီး တစ်ခု ဝုန်းခနဲပြိုကျသွား သံကို ကြားလိုက်ရသည်။

လူအုပ်ကြီးသည် စပါးစည့်အမိုးကြီး ပြိုကျလာသံ ကြောင့် လန့်ဖျပ်၍အော် လိုက်ကြသည်။ စပါးစည့်ထဲမှ ကော်ပဲသီးနှံများကို မီးလောင်သဖြင့် မုန့်ဖုတ် သကဲ့သို့ အနံ့တစ်မျိုး ပေါ်ထွက်လာ၏။ ထို့နောက် မီးတောက်များ သည် အရှိန်ကောင်းလာကြပြန်ကာ မီးကြည့်သူများ၏  စိတ်အားထက်သန်လျက် ရှိ၍ ပင်ပန်းနွမ်းနယ်လျက်ရှိသော မျက်နှာများကို အရောင်ဟပ်လိုက်ပြန်သည်။

ခါးတိုအင်္ကျီဝတ်ထားသည့်လူသည် လက်နှစ် ဖက်ကို မြှောက်ကာ “ကောင်းတယ်ကွ၊ ဝမ်းသာတယ်ကွ၊ အကုန်လောင်ကွ” ဟု အော်ဟစ်လျက် ရှိလေသည်။

“အဲဒါ ပိုင်ရှင်ပေါ့ဗျ” ဟု လူအုပ်ထဲမှ အသံများ ထွက်ပေါ်လာလေသည်။

မင်းသားကလေးအင်ဒရေသည် အယ်ပါတစ်ကို ဆက်၍ ပြောနေသည်။

. “ကဲ ဒါပဲ၊ ခမည်းတော်ကြီးနဲ့ အစ်မတော်ထိပ် ထားကို ကျုပ်မှာလိုက်တဲ့ အတိုင်း ပြောပြလိုက် ဟုတ်လား”

မင်းသားကလေး အင်ဒရေသည် မိမိ၏အနီးတွင် တောင်းပန်တိုးလျှိုးသည့် အမူအရာဖြင့် ခပ်ကုပ်ကုပ်ရပ်နေ သောဘာ့ဂ်ကို စကားတစ်ခွန်းမျှ မပြောတော့ဘဲ မြင်းကို တို့၍ လမ်းကြားထဲအတိုင်း စီးထွက်သွားလေသတည်း။

# အခန်း ၅

ရုရှားတပ်များသည် စမိုးလင့်မှ ဆက်လက်ဆုတ်ခွာလျက် ရှိကြ၍ ရန်သူ ပြင်သစ်တပ်များကလည်း နောက်မှ တရ ကြမ်း ချီတက်လာကြလေသည်။ ဩဂုတ်လ ၁၀ ရက် နေ့၌ မင်းသားကလေးအင်ဒရေ ကွပ်ကဲသော တပ်ရင်း သည် တောင်ကတုံးသို့သွားသော လမ်းဆုံကို ဖြတ်ကျော် ကာ မော်စကိုသို့ သွားသော ပေတစ်ရာလမ်းမကြီးအတိုင်း ဆုတ်ခွာလာခဲ့သည်။ ရေရှား၍ နေပူရှိန်ပြင်းခဲ့သည်မှာ ရက်သတ္တ သုံးပတ်ကျော်မျှ ရှိခဲ့လေပြီ။ တိမ်တိုက်များ သည် ကောင်းကင်ပြင်၌ ဂွမ်းဆိုင်ကြီးများကဲ့သို့ ရွေ့လျား လျက်ရှိကာ တစ်ခါတစ်ရံ၌ နေမင်းကို ဖုံးလွှမ်းသွားကြ၏။ သို့ရာတွင် မွန်းတိမ်းသည်နှင့် တစ်ပြိုင်နက် တိမ်တိုက် တို့ လွင့်စဉ်သွားကြကာ နီမှောင်သော နှင်းထုကြီးထဲတွင် ပျောက်ကွယ်သွားပြန်လေသည်။ ညက နှင်းတို့ ထူထပ်စွာ ကျထားခြင်းကြောင့်သာ မြေကြီးမှာ ယခုလောက် စိမ်းလန်း စိုပြည်နေခြင်း ဖြစ်သည်။ ရိတ်သိမ်းခြင်း မပြုရသေးသည့် ကောက်နှံများသည်လည်း ပူပြင်းလှသော ဒဏ်ကြောင့် ကြွေကျ ပျက်စီးကုန်ကြသည်။ ထုံးအိုင်များ ခန်းခြောက် ကုန်ကြပြီ ဖြစ်၏။ ကျွဲ၊ နွားတိရစ္ဆာန်များသည် အစာ ရေစာ ဝလင်စွာ မစားရသည့်အတွက် ကြုံလှီဖျော့တော့ လျက်ရှိကြကာ အပူရှိန်ကြောင့် ခြောက်သွေ့လျက်ရှိသော စားကျက်များတွင် စားစရာ စိမ်းစိမ်းစိုစိုကိုမျှ ရှာဖွေမတွေ့ ဘဲဖြစ်လျက် ရှိကြ၏။ နှင်းတို့ ထူထပ်စွာကျသော ည အချိန်နှင့် တောအုပ်များအတွင်း၌သာ စိမ်းလန်းစိုပြည် ခြင်းကို တွေ့ရတော့သည်။ သို့ရာတွင် စစ်တပ်များ ချီတက် လျက်ရှိသည့် ပေတစ်ရာလမ်းမကြီးတစ်လျှောက်တွင်ကား ညအချိန်၌သော် လည်းကောင်း၊ တောအုပ်ထဲသို့ ဝင်သွား သည့်အခါ၌ လည်းကောင်း စိမ်းလန်းစိုပြည်ခြင်း ဟူ၍ မရှိတော့ချေ။ ဖုန်မှုန်တို့ ခြောက်လက်မ

ခန့် တက်လျက် ရှိသော ပေတစ်ရာလမ်းမတစ်လျှောက်တွင် နှင်းပေါက်တို့ လည်း ကြာရှည်စွာတည်နိုင်ဟန် မတူတော့ချေ။ အရုဏ် တက်သည်နှင့် တစ်ပြိုင်နက် စစ်တပ်များသည် ဆုတ်ခွာ လာခဲ့ကြရပြန်၏။ အမြောက်ရထားများ၊ ဝန်တင် လှည်း များသည် ပုံတောင်းနှစ်လုနီးပါးရှိသော ဖုန်တောထဲတွင် တရွေ့ရွေ့လှုပ်ရှား လျက် ရှိကြ၏။ ခြေလျင်တပ်များသည် ညအချိန်၌ပင် အေးမြခြင်း မရှိ၊ ပူလောင် မွန်းကျပ်လှသော ခြေကျင်းဝတ်ခန့်ရှိ ဖုန်တောထဲတွင် ချီတက်ခဲ့ကြ၏။ ဖုန် များသည် လှည်းဘီးများ၊ ခြေထောက်များအောက်၌ မှုန့်မှုန့်ညက်ညက် ကြေလျက် ရှိ၍ အချို့ဖုန်များကား တိမ် တိုက်ကြီးများကဲ့သို့ အထက်သို့ လုံး၍ တက်လာကြ ကာ မျက်လုံးများ၊ နားများ၊ ပါးစပ်များ၊ နှာခေါင်းများ၊ ဆံပင် များတွင် လာရောက် ခိုဝင်ကြ၏။ အဆိုးဆုံးကား တလှုပ် လှုပ်သွားလျက်ရှိကြသော တပ်သားများ၏ အဆုတ်များ ထဲသို့ ဝင်ရောက်ခြင်းပင် ဖြစ်သည်။ နေမြင့်လာသည်နှင့် အမျှ ဖုန်လုံး ကြီးများသည်လည်း အထက်သို့ တဖြည်းဖြည်း မြင့်တက်လာကြလေရာ နေသည် ထောင်းထောင်းထလျက် ရှိသော ဖုန်လုံးကြီးထဲ၌ ကြက်သွေးရောင် အလုံးကြီး တစ်လုံး ကို ချိတ်ဆွဲထားသကဲ့သို့ရှိလျက် သာမန်မျက်စိပင် ကြည့်၍ ရနိုင်အောင် အရောင်အဝါ ဖျော့တော့လျက် ရှိ၏။ လေ ငြိမ်လျက်ရှိသည့်အတွက်ကြောင့်လည်း တပ်သားများမှာ ဖုန်မွန်းလျက်ရှိလေသည်။ တပ်သားများသည် ပါးစပ်များ၊ နှာခေါင်းများကို ပဝါများ စည်း၍ ထားကြ၏။ ရွာတစ်ရွာ သို့ ဖြတ်သည်နှင့် တစ်ပြိုင်နက် တပ်သားများသည် ရေတွင်း ဆီသို့ပြေးကာ ရေတွင်းတွင် ရွှံ့နှစ်သာ ကျန်တော့သည် အထိ ရေကို အလုအယက်သောက်ကြလေသည်။

မင်းသားကလေးအင်ဒရေသည် ထိုတပ်ရင်းကို ကွပ်ကဲ၍ လိုက်ပါလာရလေ ရာ ထိုတပ်ရင်းအား အုပ်ချုပ် ခြင်း၊ တပ်သားများ၏ကိစ္စအဝဝကို စီမံရခြင်း၊ အထက် အမိန့်များကို လက်ခံ၍ အောက်သို့ စီမံခန့်ခွဲရခြင်းစသည့် ပြဿနာ များသည် ၎င်း၏ခေါင်းပေါ်တွင် လုံးလုံးပုံကျ လျက်ရှိ၏။ စမိုးလင့်မြို့ မီးလောင်ပြာ

ကျခဲ့သည့်အဖြစ် နှင့် စမိုးလင့်ကိုစွန့်ခွာခဲ့ရသည့်အဖြစ်တို့သည် မင်းသား ကလေး အင်ဒရေ၏ဘဝ၌ မေ့၍မရအောင် စွဲ၍ကျန်ရစ် ခဲ့လေသည်။ ဤအခြင်းအရာ ကြောင့် မင်းသားကလေး အင်ဒရေသည် မိမိ၏ဝမ်းနည်းဖွယ်ကောင်းသော အဖြစ် ကို ပင်မေ့လျော့ကာ ရန်သူကို နာကြည်းသည့်စိတ်တို့ တဖွား ဖွား ပေါ်ပေါက်လာ ကြသည်။ မင်းသားကလေးအင်ဒရေ သည် မိမိတပ်ရင်း၏ကိစ္စများကိုသာ အထူး ကြပ်မတ် ဆောင်ရွက်ကာ လက်အောက်တပ်မိုလ် တပ်သားများကို မျှတစွာ ဆက်ဆံလေ့ရှိသည်။ ထို့ကြောင့် တပ်ရင်းတစ်ခု လုံးက "ကိုယ်တော်ကလေး"ဟု အမြတ်တနိုး ခေါ်ဝေါ်ကြ ကာ ၎င်းကို လေးစားကြသည်။ ကြည်ညိုကြသည်။ ၎င်း အတွက် ဂုဏ်ယူကြသည်။ သို့ရာတွင် မင်းသားကလေး အင်ဒရေသည် မိမိ၏လက်အောက်ငယ်သားများကို ကြင် နာသည်ဆိုရာ၌ တီမိုခင်ကဲ့သို့ မိမိ၏အတိတ်အဖြစ်အပျက် များကို မသိသူများ၊ ယခုမှစ၍ ဆက်ဆံရသူများကို သာ ကြင်နာနူးညံ့စွာ ဆက်ဆံခြင်းဖြစ်သည်။ ယခင်က သိ ဟောင်းကျမ်းဟောင်း များ၊ စစ်ဦးစီးဌာနချုပ်မှ မိတ်ဆွေ ရောင်းရင်းဟောင်းများကို တွေ့လိုက် သည်၌ကား ၎င်း၏ နူးညံ့သိမ်မွေ့ခြင်းတို့သည် ပျောက်ကွယ်သွားကာ မျက်နှာ သည် တင်းမာခက်ထန်လာတတ်၏။ မလိုတမာအသွင် ကို ဆောင်လာတတ်၏။ လှောင်ပြောင်နှိမ့်ချသောအသွင် ကို ဆောင်လာတတ်၏။ မင်းသားကလေး အင်ဒ ရေသည် အတိတ်နှင့်ပတ်သက်လာလျှင် အရာရာကို စက်ဆုပ်မုန်း တီးဟန် ရှိပေ သည်။ ထိုသူများနှင့် ပတ်သက်လာလျှင် မင်းသားကလေးအင်ဒရေသည် မိမိအနေ နှင့် မတရား သဖြင့် မပြုမိအောင်သာ ရှောင်ရှားကာ ဝတ္တရားအတိုင်းပင် ဆက်ဆံ ခြင်း ပြုလေသည်။

မင်းသားကလေး အင်ဒရေအဖို့၌ အရာခပ်သိမ်း သည် ညစ်ကျ နောက်ကျိ ဖွယ်အတိပြီးလျက် ရှိ၏။ အထူး သဖြင့် ဩဂုတ်လ ၆ ရက်နေ့တွင် စမိုးလင်းမြို့ကို စွန့် ခွာရသည့်အချိန်မှစ၍ လည်းကောင်း၊ (မင်းသားကလေး အင်ဒရေ၏အမြင်

တွင် စမိုးလင့်မှ ခံလျှင် ရနိုင်သည်။ ခံ လည်း ခံသင့်သည်ဟု ယူဆသည်။) နာမ ကျန်းဖြစ်လျက် ရှိသော ခမည်းတော်ကြီးသည် ၎င်းကိုယ်တိုင် တည်ဆောက် စည်းရုံးခဲ့သော တောင်ကတုံးကို လုယက်သောင်းကျန်း ( သူများလက်သို့ စွန့်ပစ် ကာ မော်စကိုသို့ ထွက်ပြေး ပြောင်း ရွှေ့မှ ဖြစ်တော့မည်ဟု သိခဲ့ရသည့်အချိန်မှ စ၍ မင်းသား ကလေး အင်ဒရေ၏စိတ်သည် ပို၍ နောက်လာခဲ့လေ သည်။ သို့သော်လည်း မင်းသားကလေး အင်ဒရေ၏ တပ်ရင်းမှာ အခြေအနေမဆိုးလှသေး သည့်အတွက် မိမိ ၏ကိုယ်ရေးကိုယ်တာများကို စဉ်းစားချိန် အနည်းငယ် ရပေ သေးသည်။ ခမည်းတော်မင်းသားကြီးဘိုလကွန်စကီ၊ အစ်မတော်ထိပ်ထား မေရီ နှင့် သားငယ်တို့ မော်စကိုသို့ ထွက်ခွာသွားပြီဟူသောသတင်းကို လွန်ခဲ့သောနှစ် ရက်က မင်းသားကလေး အင်ဒရေ ရရှိခဲ့၏။ တောင်ကတုံးတွင် ကိစ္စအထူးအထွေ မရှိသော်လည်း မင်းသားကလေး ( အင်ဒရေသည် မိမိ၏သောကကို ဖြေဖျောက်မှ နေသာထိုင် သာရှိသူ ဖြစ်သည့်အတိုင်း တောင်ကတုံးသို့ မြင်းစီး၍ သွားရောက် ကြည့်ရန် ဆုံးဖြတ်လိုက်သည်။

မင်းသားကလေးအင်ဒရေသည် မိမိ၏မြင်းကို ကုန်းတင်၍ပြင်ထားရန် အမိန့်ပေးပြီးနောက် မိမိကိုယ် တိုင်မှာမူကား ဇာတိချက်ကြွေဖြစ်၍ ကြီးပြင်းလာခဲ့ ရာ ဖြစ်သော တောင်ကတုံးသို့ မြင်းစီးလာခဲ့လေသည်။ သို့ဖြင့် တောင်ကတုံးရှိ ကန်ကလေးအနီးသို့ ရောက်လာခဲ့၏။ တစ်ခါက မိန်းမတို့သည် ထိုကန်စပ်၌ ရယ် သံမောသံ တညံညံဖြင့် အဝတ်လျှော်တတ်ကြ၏။ သစ်သားလက် ရိုက်တံများဖြင့် အဝတ်ဖွပ်တတ်ကြ၏။ ယခုကား ထို ကန်ပေါင်၌ လူရိပ်လူယောင်ကိုပင် မတွေ့ရ တော့ချေ။ ကန်ပေါင်ရှိ အဝတ်လျှော်သော ရေစင်ကလေးသည် ကျိုး ကျ၍ ကန်ထဲ သို့ တစ်ဝက်မြုပ်လျက် ရှိ၏။ အချို့ ပျဉ်စ တို့သည် ကန်လယ်တွင်မျောလျက် ရှိ၏။ မင်းသားကလေး အင်ဒရေသည် အစောင့်၏တဲဆီသို့ မြင်းစီး၍ လာခဲ့သည်။ စံအိမ်တော်ဝင်းဝရှိ ကျောက်တို ( တံခါးပွင့်လျက်ရှိ၏။ ဥယျာဉ်စကြံ

တစ်လျှောက်၌ မြက်ပင် များ ဖုံးစပြုလေပြီ။ အင်္ဂလိပ်ပန်းမျိုးများ စိုက်ထားသည့် ဥယျာဉ်ထဲတွင် မြင်းများသည် ပန်းပင်များကို စားလျက်  ရှိသည်ကို တွေ့ရ၏။ မင်းသားကလေး အင်ဒရေသည် အပူငွေ့ရရန်အတွက် မှန်ချပ်များကာထားသော ပန်းခုံဆီသို့ မြင်းကို စီးလာခဲ့၏။ အချို့မှန်များမှာ ကျိုးပဲ့ပျက်စီးလျက် ရှိ၍ ပန်းအိုးများမှာ လဲကျလျက်ရှိကာ အချို့ပန်းပင်များ မှာ ညှိုးရော်ခြောက်သွေ့စ ပြုကြလေပြီ။ မင်းသားကလေး အင်ဒရေသည် ဥယျာဉ်မှူးတာရာကို အော်၍ ခေါ်ကြည့်၏။ သို့ရာတွင် ထူးသံ မကြားရ။ မင်းသားကလေးအင်ဒရေ သည် မှန်ကာပန်းခုံထောင့်ရှိ အလှပြပန်းခုံကလေးအနီးသို့ လာခဲ့၏။ ပန်းနွယ်ပန်းခက်သဏ္ဌာန် ရုပ်လုံးဖော်ထားသည့် ဥယျာဉ်စောင်ရန်းတိုင်များသည် ကျိုးပဲ့လျက်ရှိ၍ အသီးများ ပြွတ်လျက်ရှိသော ဆီးတော်ခိုင်များအား ချိုင်ထားကြခြင်း ကိုလည်း တွေ့ရ၏။ မင်းသားကလေးအင်ဒရေ ငယ်ငယ် က ဝင်းဝတွင် ထိုင်လေ့ရှိသော လယ်သမားအဘိုးအိုကြီး တစ်ယောက်သည် အစိမ်းရောင်သုတ်ထားသော ခုံတန်း လျာကလေးတွင် ထိုင်ကာ လျှော်ဖိနပ်တစ်ရန်ကို ထိုးလျက် ရှိ၏။

ထိုလယ်သမားအဘိုးအိုမှာ နားလေးလျက်ရှိသဖြင့် မင်းသားကလေးအင်ဒရေ၏ မြင်းခွာသံကို ကြားဟန်မတူ ချေ။ လယ်သမားအဘိုးအိုကြီးသည် မင်းသားကြီးဘိုလကွန် စကီ ထိုင်လေ့ရှိသော ခုံတန်းလျားပေါ်တွင် ထိုင်လျက်ရှိ၍ ၎င်းအနီးမှ လျှော်မျှင်၊ လျှော်စကလေးများသည် ကျိုးကျ ညှိုးခြောက်လျက်ရှိသော တတိုင်းမွှေးပင်ပေါ်သို့ ကျလျက် ရှိ၏။

မင်းသားကလေးအင်ဒရေသည် စံအိမ်ဘက်သို့ - စီးလာခဲ့ပြန်သည်။ ဥယျာဉ်ဟောင်းထဲရှိ သံပရာပင်တို့မှာ ခုတ်ဖြင့် ချိုင်ထားသဖြင့် လဲကျလျက်ရှိပြီး စာဥကွက်မြင်းမကြီးနှင့် သားငယ်သည် စံအိမ်ရှေ့ နှင်းဆီချုံကြီး များကြား၌ အစာစားလျက်ရှိကြ၏။ ပြတင်းပေါက် တစ်ပေါက်မှ လွဲ၍ စံအိမ်တံခါးများအားလုံး ပိတ်လျက်ရှိ၏။ မြေကျွန်သူငယ်ကလေးတစ်ယောက်သည် မင်းသား ကလေး အင်ဒရေကို

မြင်သည်တွင် စံအိမ်ထဲသို့ ဝင်ပြေးလေ သည်။ အယ်ပါတစ်သည် မိမိ၏သားမယား များကို ပို့ပြီး စံအိမ်တော်တွင် တစ်ယောက်တည်း အစောင့်ကျန်ရစ်ခဲ့ သည်။ ထို အချိန်က အယ်ပါတစ်သည် စံအိမ်ထဲတွင် ထိုင် ကာ “ထေရုပ္ပတ္တိ” ကျမ်းတစ် စောင်ကို ဖတ်လျက် ရှိသည်။ မင်းသားကလေးအင်ဒရေ ရောက်လာသည်ဟုကြား သဖြင့်   အယ်ပါတစ်သည် အင်္ကျီကိုကြယ်သီးတပ်ကာ မျက်မှန်ကို နှာခေါင်းပေါ်သို့ လျှောချလျက် အိမ်ပြင်ဘက်သို့ ထွက်လာ ခဲ့၏။ မင်းသားကလေး အင်ဒရေကို မြင်သည်တွင် ပြေး လာကာ မည်သည့်စကားကိုမျှ မပြောတော့ဘဲ မင်းသား ကလေးအင်ဒရေ၏ ခြေအစုံကို ဖက်လျက် ကြူကြူပါ အောင် ငိုလေတော့သည်။

အတန်ကြာမှ မိမိ၏ အားငယ်တတ်ခြင်းကို ရှက် သွားဟန်ဖြင့် ဣန္ဒြေဆည် လိုက်ပြီး အခြေအနေကို ပြော ပြ၏။ စံအိမ်ရှိ အဖိုးတန်ပစ္စည်းများကို ဘိုဂူချာရိုဗို သို့ ပြောင်းရွှေ့ပြီး ဖြစ်ကြောင်း၊ စည့်ထဲမှ ကောက်ပဲသီးနှံ များကိုလည်း လှည်းများ နှင့်တိုက်၍ ပြောင်းရွှေ့ပြီး ဖြစ် ကြောင်း၊ မြက်ခြောက်များနှင့် နွေပြောင်းဖူးများမှာ မူ စစ်တပ် များက မှည့်အောင်ပင် မစောင့်တော့ဘဲ မြင်းများ လွှတ် ထားလိုက် သဖြင့် ဘာမျှမကျန်တော့ကြောင်း ပြောပြလေ သည်။ ထိုနှစ်က ပြောင်းဖူးများမှာ များစွာအောင်လှသည် ဟုလည်း ပြောပြ၏။ လယ်သမားများမှာလည်း အလုပ် အကိုင် မရှိတော့ဘဲ ဒုက္ခရောက်လျက်ရှိကြ၏။ အချို့မှာ ဘိုဂူချာရိုဗိုသို့ လိုက်သွား သဖြင့် တောင်ကတုံးတွင် လယ် သမားအနည်းငယ်သာ ကျန်တော့သည်။

မင်းသားကလေးအင်ဒရေသည် အယ်ပါတစ်၏ စကားကို ဆုံးအောင်နားမ ထောင်တော့ဘဲ သူ့ခမည်းတော် ကြီးနှင့် အစ်မတော်တို့ မော်စကိုသို့ ထွက်ခွာသွား ကြပြီဟု ယူဆထားသဖြင့်

”ခမည်းတော်ကြီးနဲ့ အစ်မတော်ထိပ်ထားတို့ ဘယ်နေ့က ပြောင်းသွားကြ သလဲ” , အယ်ပါတစ်သည် မင်းသားကြီးနှင့် သမီးတော် ထိပ်ထားတဲ့ မော်စကိုသို့

ပြောင်းခြင်းမဟုတ်သေးဘဲ ဘိုဂူ ချာရိုဗိုသို့ ပြောင်းရွှေ့ခြင်းကိုမေးသည်ဟု အထင်ရှိကာ ဩဂုတ်လ၇-ရက်နေ့ကပင် ပြောင်းရွှေ့သွားကြောင်း ပြော ပြ၏။ ထို့ပြင် ပိုင်စားနယ်မြေကို စောင့်ရှောက်ရေးနှင့် ပတ်သက်၍ အကျိုးအကြောင်းစုံစမ်းကာ ညွှန်ကြားချက် များကို မေးမြန်းလျက် ရှိ၏။

"တပ်တွေက မြင်းစားဂျုံတွေ လာတောင်းရင် ပေးလိုက်ရမလား ကိုယ်တော်လေး၊ သူတို့ဆီက ပြေစာ တောင်းထားဖို့ လိုသေးသလား၊ စည့်တွေထဲမှာတော့ မြင်းစားဂျုံ တင်း-၆၀၀ လောက် ကျန်သေးတယ်ဖျာ"

မင်းသားကလေးအင်ဒရေသည် မည်သို့ ဖြေကြား ရမည်မသိဘဲ နေရောင်ဖြင့် ပြောင်ဝင်းနေသော အယ်ပါ တစ်၏ ခေါင်းပြောင်ပြောင်ကြီးကို ငုံ့ကြည့်လိုက်သည်။ အယ်ပါတစ်၏မျက်နှာမှာ မိမိသည် ထိုမေးခွန်းကို မေးရန် အချိန်မဟုတ်ကြောင်း၊ သို့သော် မင်းသားကလေးအင်ဒရေ စိတ်ပြေလက်ပျောက်ဖြစ်စေရန် စကားမရှိ စကားရှာ၍ မေးခြင်းမျှသာဖြစ်ကြောင်းကို ဖော်ပြလျက် ရှိ၏။

"အင်း လာတောင်းရင်လဲ ပေးလိုက်ပေါ့ဗျာ"

"ဥယျာဉ်တွေလဲ ပျက်စီးကုန်ပြီ ကိုယ်တော်လေး၊ ကျွန်တော်လဲ မတတ်နိုင်တော့ဘူးဖျာ တပ်ရင်းသုံးခု လာပြီး စခန်းချသွားလိုက်တာ အကုန်ပျက်စီးတာပဲ၊ အများအား ဖြင့် လက်ပစ်ဗုံးကိုင် ရဲမက်တပ်တွေဖျာ၊ ကျွန်တော်တို့က ဆိုင်ရာကို တိုင်ရအောင်ဆိုပြီး တပ်မှူးတွေရဲ့ နာမည်နဲ့ ရာထူးတော့မေးပြီး မှတ်ထားလိုက်တယ်" ။

"ကဲ အယ်ပါတစ်၊ ဒီမှာ ခင်ဗျား ဘာလုပ်နေဦး မှာလဲ၊ မကြာခင် ရန်သူတွေ သိမ်းတော့မယ်၊ မပြောင်း သေးဘူးလား" မင်းသားကလေး အင်ဒရေက မေးလိုက်သည်။

အယ်ပါတစ်သည် မင်းသားကလေးအင်ဒရေဘက် သို့ လှည့်၍ ကြည့်လိုက်ပြီးနောက် လေးနက်သောအသံဖြင့်

”မသွားဘူး ကိုယ်တော်လေး၊ ကိုယ်တော်ကြီးဟာ ကျွန်တော်ရဲ့ ကိုးကွယ်ရာပဲ၊ ကိုယ်တော်ကြီးရဲ့ စိတ်ဆန္ဒ အတိုင်း ဒီမှာပဲ စောင့်နေရစ်ခဲ့တော့မယ်”

ထိုအခိုက် ခေါင်းတုံးများရိတ်ထားသည့် လယ် သမားတစ်သိုက်သည် မြက်ခင်းပြင်ကိုဖြတ်၍ မင်းသား ကလေး အင်ဒရေထံသို့ လာနေကြ၏။

“ကဲ သွားမယ် အယ်ပါတစ်” မင်းသားကလေး အင်ဒရေသည် အယ်ပါတစ်ကို ကြည့်၍ နှုတ်ဆက် လိုက်သည်။ “ခင်ဗျားလဲ ဒီမှာနေလို့ မဖြစ်ဘူး၊ သွားမှ ဖြစ်မယ်၊ ရတတ်သမျှ ပစ္စည်းကလေးတွေကို သယ်နိုင် သလောက် သယ်ပြီး ကျန်တာကိုတော့ ဒီအတိုင်းပဲ ပစ်ထား ခဲ့ပေတော့၊ မတတ်နိုင်ဘူး၊ ကျွန်တွေကိုလဲ ကျုပ်တို့ ရာဇန်ပိုင်စား နယ်မြေဘက်သို့ ရွှေ့ချင် ရွှေ့ပစေ။ ဒီလိုမှ မဟုတ်ရင်လဲ မော်စကိုနားက ပိုင်စားနယ်မြေကြီးကို ပြောင်း ကြပစေ”

အယ်ပါတစ်သည် မင်းသားကလေး အင်ဒရေ၏ ခြေကိုဖက်၍ ငိုလျက်ရှိ၏။ မင်းသားကလေးအင်ဒရေ သည် အယ်ပါတစ်၏လက်များကို ဖြည်းညင်းစွာဖြုတ်ကာ မြင်းကိုတို့၍ စံအိမ်အပြင်သို့ ဒုန်းစိုင်းထွက်လာခဲ့ လေသည်။

အလှကြည့်ဥယျာဉ်ကလေးထဲ၌ နားလေးသည့် အဘိုးအိုကြီးသည် ထိုင်လျက် ချုပ်လက်စလျှော်ဖိနပ်စွပ် ထားသော ဖိနပ်ပုံသစ်သားတုံးကို တဒေါက်ဒေါက် ခေါက် လျက်ရှိ၏။ မင်းသားကလေးအင်ဒရေ၏အဖို့၌ကား ပျက် စီးလျက်ရှိသော အလှကြည့်ဥယျာဉ်ထဲတွင် ထိုအဘိုးကြီး ထိုင်လျက် ရှိခြင်းမှာ မိမိ ချစ်ခင်မြတ်နိုးသော ကွယ်လွန်သူ တစ်ဦး၏နဖူးပြင်တွင် ယင်တစ်ကောင်နားနေခြင်းနှင့်ပင် တူတော့သည်။ သူငယ်မကလေးနှစ်ယောက်သည် အပူ ခတ်ပေးထားသည့် ဥယျာဉ်ထဲရှိ ဆီးတော်ပင်များမှ ဆီးတော်သီးများကို ခူး၍ထွက်လာကြ၏။

သခင်ဖြစ်သော မင်းသားကလေးအင်ဒရေကို မြင်သည်၌ ခပ်ကြီးကြီး သူငယ်မကလေးသည် အငယ်မကလေးကိုခေါ်ကာ သစ်ပင် တစ်ပင်နောက်တွင် ပုန်းကွယ်နေကြသည်။

မင်းသားကလေးအင်ဒရေသည် ၎င်းတို့အား မိမိက မည်သို့မျှအရေးယူမည်မဟုတ်ကြောင်းကို သိစေလိုသဖြင့် မျက်နှာကိုလွှဲ၍ မြင်းကိုစီးလာခဲ့သည်။ မိမိအားကြောက်ရွံ့ ၍ သစ်ပင်နောက်တွင် ပုန်းကွယ်နေကြသည့် ကလေးမ ကလေးများကိုလည်း သနားသွားမိသည်။ ၎င်းတို့ ကြောက် မည်စိုး၍ မကြည့်ရန် စိတ်တင်းထားသော်လည်း သူတို့ ကလေးတွေကို ကြည့်ချင်လာပြန်သည်။ ဤကလေးမနှစ်ဦး ကို မြင်လိုက်သည့်အခါတွင်ကျမှ လောကတွင် လူတိုင်း ( လူတိုင်း၌ တစ်ယောက်တစ်မျိုးစီကွဲပြားသော စိတ်ဝင်စား မှုများ ရှိကြပေသည်တကားဟု သဘောပေါက်လာခဲ့လေ သည်။ ၎င်းတို့၏စိတ်ဝင်စားမှုသည်လည်း မိမိ၏ စိတ်ဝင်စားမှုကဲ့သို့ပင် ရှိသင့်ရှိထိုက်သော စိတ်ဝင်စားမှုမျိုး ဖြစ်သည်ဟု နားလည်လာခဲ့လေသည်။ ထိုသူငယ်မလေး နှစ်ဦးကား လောကကြီး၌ တစ်ခုတည်းသောအရာမှအပ ( အခြားဘာကိုမျှ မက်မောတောင့်တဟန် မရှိကြချေ။ ၎င်းမှာလည်း အခြားမဟုတ်။ ဆီးတော်ပင်မှ ဆီးတော် သီးကို ပိုင်ရှင်မသိအောင် တိတ်တဆိတ် ဆွတ်ယူစားခြင်း သာဖြစ်၏။ မင်းသားကလေး အင်ဒရေသည် ၎င်းတို့၏ ဆန္ဒကိုနားလည်သဘောပေါက်သည့်အလျောက် “သူတို့ ခမျာ ဆန္ဒပြည့်ကြပါစေ”ဟုပင် ကျိတ်၍ ဆုတောင်းမိသေး သည်။ မင်းသားကလေး အင်ဒရေသည် ၎င်းတို့နှစ်ဦးကို တစ်ခါ ပြန်ကြည့်လိုသေးသဖြင့် လှည့်ကြည့်လိုက်မိပြန် သည်။ ထိုအခါ၌ကား သူငယ်မကလေးနှစ်ဦးသည် အန္တ ရာယ်မှလွတ်ကျွတ်ပြီဟု ယူဆကြဟန်ဖြင့် ပုန်းကွယ် ရာမှ ထွက်လာကြ၍ တစာစာ စကားပြောလာကြရင်း အင်္ကျီအဖျားမကာ နေလောင်ထားသည့် ခြေထောက် ကလေးများကို လှုပ်ယမ်းကစားလျက် မြက်ခင်းပြင်ကို ဖြတ်ပြေးလာကြ၏။

မင်းသားကလေးအင်ဒရေသည် စစ်တပ်များ ဆုတ် ခွာလျက်ရှိခြင်းကြောင့် ဖုန်တလုံးလုံးထနေသည့် ပေတစ် ရာလမ်းမကြီးမှ ထွက်လာခဲ့ရသဖြင့် အနည်းငယ်လန်းဆန်း လာသလိုလို ရှိ၏။ သို့ရာတွင် တောင်ကတုံးမှထွက်လာ၍ မကြာမီမှာပင် မင်းသားကလေး အင်ဒရေသည် ပေတစ်ရာ လမ်းမကြီးသို့ ပြန် ရောက်လာကာ ကန်ပေါင်ကလေးပေါ် တွင် နားနေသည့်တပ်များကို မီလာ ပြန်သည်။ အချိန်မှာ မွန်းတိမ်းတစ်ချက်တီး ရှိနေလေပြီ။ ဖုန်လုံးများကြားမှ နေ လုံးနီနီကြီးသည် နေရောင်ခြည်များကို လွှတ်လျက်ရှိ ပေရာ ဝတ်ရုံအင်္ကျီကြီးကို ဝတ်ထားသည့် မင်းသားကလေး အင်ဒရေ၏ကျောမှာ ပူစပြုလာသည်။ တပ်များ နားသည့် နေရာမှ စကားပြောဆိုသံများကို ကြားရ၍ ၎င်းတို့အထက် တွင် ဖြန့်မိုး လျက်ရှိသော အလိပ်လိပ်ထနေသည့် ဖုန်လုံး ကြီးကိုလည်း မြင်ရ၏။ လေက လည်း ငြိမ်လျက်ရှိ၏။ ကန်ကလေးအနီးသို့ ဖြတ်၍ စီးလာခဲ့သောအခါ၌ လန်း ဆတ်သောရေခိုးရေငွေ့ အနံ့ကို ရှူရှိုက်မိသည်။ ကန်ရေမှာ ညစ်ပတ်လျက်ရှိ သော်လည်း မင်းသားကလေးအင်ဒရေ သည် ကန်ထဲသို့ဆင်း၍ စိမ်လိုက်ချင်သည်။ ကန်ပေါင် ပေါ်မှ တပ်သားများ၏အော်ဟစ်ပြောဆိုသံ၊ ရယ်မောသံ များကိုလည်း ကြားရလေသည်။ ကန်ထဲသို့ လှမ်းကြည့် လိုက်သောအခါ ကန်ထဲတွင် အုတ်ကြွပ် ရောင်ကဲ့သို့ နီမြန်း သောမျက်နှာ၊ လည်ပင်း၊ လက်မောင်းတို့နှင့်တကွ ဖြူဖွေး လျက်ရှိသော ခန္ဓာကိုယ်များကို ဆေးကြောသုတ်သင်နေ ကြသည့် တပ်သားများ ကို မြင်ရ၏။ တပ်သားများမှာ ကန်တစ်ကန်လုံး အခဲလိုက်၊ အစုလိုက် ပြွတ်သိပ် ပြည့်ကျပ် လျက်ရှိသဖြင့် ကန်ရေသည် တစ်ပေခန့် မောက်လာ၏။ ရယ်မော အော်ဟစ်ကာ ကိုယ်လုံးတီးဖြင့် ကန်ထဲတွင် ကူး  ခတ်လျက်ရှိသော စစ်သား များသည် ရေပုံးတစ်ပုံးထဲတွင် ငါးများကို ပြွတ်သိပ်ထည့်ထားသကဲ့သို့ ရှိလေရာ ဤမျှ သေးငယ်လှသော ကန်ကလေးထဲ၌ ဤမျှ များပြားလှ သော လူအုပ်ကြီး ဆင်း၍ ငါးပိငါးချဉ်သိပ် ကူးခတ်ပျော်ရွှင် နေကြပုံကိုကြည့်ရသည်မှာ စိတ်မ ချမ်းသာစရာ ကောင်း လှပေသည်။

မင်းသားကလေးအင်ဒရေ သိက္ခမ်းသော တတိယ F တပ်ခွဲမှ ဒူးကောက်ကွေးတွင် ပတ်တီးစည်းထားသည့်ဆံပင် ကောင်းကောင်း တပ်သားတစ်ယောက်သည် နောက်သို့ ( ဆုတ်၍ အရှိန်ယူကာ ပြေးသွားပြီးနောက် ကန်ထဲသို့ ခုန်ဆင်းလိုက်သည်။ အမြဲတမ်း မုတ်ဆိတ်မွေးဖားလျားနှင့် နေတတ်သည့် အသားညိုညို အရာခံဗိုလ်ကလေးတစ် ယောက်မှာမူ ခါးလယ်ရောက်အောင် ရေထဲသို့ဆင်း၍ တောင့်တင်းကျစ်လျစ်သောခန္ဓာကိုယ်ကို တွန့်ချည်၊ လိမ် ချည်ပြုကာ လက်ခုပ်ဖြင့် ရေခပ်ယူလျက် ခေါင်းကို ရေ ဆွတ်နေသည်။ ကန်ထဲတွင် တစ်ယောက်ကို တစ် ယောက် ပုတ်သံ ထုသံ၊ ရယ်သံ မောသံ၊ အော်သံဟစ်သံ ဖြင့် သောသောညံလျက် ရှိလေသည်။

ကန်ပေါင်ပေါ်တွင်လည်းကောင်း၊ ကန်ထဲတွင် လည်းကောင်း၊ မြောင်းထဲတွင်လည်းကောင်း လူတွေ ဖွေး ဖွေးလှုပ်လျက်ရှိ၏။ နှာခေါင်းနီနီဖြင့် တပ်ဗိုလ် တီမိုခင် သည် မြောင်းပေါင်ပေါ်တွင်ရပ်ကာ ကိုယ်လက်သန့်စင်ပြီး ဖြစ်၍ ကိုယ်ကို မျက်နှာသုတ်ပဝါဖြင့် သုတ်လျက်ရှိ၏။ ကိုယ်လုံးတီးရှိစဉ် မင်းသားကလေးအင်ဒရေနှင့် ပက်ပင်း တိုးနေသဖြင့် အနည်းငယ်ရှက်သလိုလို ဖြစ်သွားသော် လည်း ရှောင်၍မရတော့သည့်အတွက် နှုတ်ဆက်လိုက် သည်။

“ရေချိုးလို့ကောင်းတယ် ကိုယ်တော်လေး၊ ချိုးပါ ဦးလား”

“ညစ်ပတ်လှသဗျာ” မင်းသားကလေးအင်ဒရေ က မျက်နှာကိုရှုံ့၍ ပြောလိုက်၏။

“ကိုယ်တော်လေး ချိုးမယ်ဆိုရင် ကျွန်တော့်တပ် သားတွေကို ခဏ အဖယ်ခိုင်းလိုက်မယ်လေ” တီမိုခင်သည် ပြောပြောဆိုဆို ကိုယ်တုံးလုံးဖြင့်ပင် ကန်ဆီသို့ သွားကာ တပ်သားများကို အဖယ်ခိုင်းလိုက်၏။

“ဟေ့ ဖယ်ကြ ကိုယ်တော်လေး ရေချိုးမလို့”

”ဘယ်က ကိုယ်တော်လေးလဲ၊ ကျွန်တော်တို့ ကိုယ်တော်လေးလား ဗိုလ်ကြီး”

တပ်သားများသည် မင်းသားကလေး အင်ဒရေ ရေချိုးမည်ဟုဆိုလိုက်သည်နှင့် မင်းသားကလေးအင်ဒရေ တားသည်ကိုပင်မရတော့ဘဲ ဖယ်ရှားပေးကြသည်။ မင်း သားကလေးအင်ဒရေသည် စပါးစည့်နောက်နားက ကမ်း စပ်တွင် ဆင်း၍ ကိုယ်ကို ရေထဲတွင် စိမ်နေလိုက်သည်။ . “အင်း ဒီအသားတွေ၊ ဒီခန္ဓာကိုယ်တွေဟာ အမြောက်စာတွေပါကလား” မင်းသားကလေး အင်ဒရေ သည် မိမိ၏လုံးတီးဖြစ်နေသော ခန္ဓာကိုယ်ကို ငုံ့ကြည့်၍ ဆိုလိုက်မိသည်။ မင်းသားကလေးအင်ဒရေသည် ဤသို့ ငုံ့ကြည့်ရင်း ကြက်သီးမွေးညင်းတွေ ထလာသည်။ သို့ ရာတွင် ရေ၏အအေးဓာတ်ကြောင့် မဟုတ်ချေ။ ညစ်ပတ် နောက်ကျိလျက်ရှိသော ရေကန်ထဲတွင် ကူးခတ်လှုပ်ရှား နေကြသော ကိုယ်လုံးတီးခန္ဓာကိုယ်များကို မြင်လိုက် ရသည့်အတွက် စက်ဆုပ်ရွံ့ရှာသောကြောင့်သာ ဖြစ်သည်။ မည်သည့်အတွက်ကြောင့် ဤသို့စက်ဆုပ်ရွံ့ရှာခြင်း ဖြစ် ရသည်ကိုကား မင်းသားကလေးအင်ဒရေကိုယ်တိုင် မသိ ချေ။

ဩဂုတ်လ ၇-ရက်နေ့၌ ဒုတိယတပ်မတော် ဗိုလ်ချုပ်ကြီးဘာဂရေးရှင်းသည် စမိုးလင့် ပေတစ်ရာပေါ် ရှိ မစ်ဟေလော့ကာရွာတွင် စခန်းချလျက်ရှိသော ၎င်း၏ တပ်စခန်းမှနေ၍ စစ်ဝန်ကြီးအာရတ်ချေထံသို့ အောက်ပါ စာချွန်ကို ပေးပို့လိုက်လေသည်။

***ချစ်ခင်လှစွာသောမြို့စားကြီး အာရတ်ဒေါ့ခင်ဗျား။***

(ဗိုလ်ချုပ်ကြီးဘာဂရေးရှင်းသည် မိမိ၏မိတ်ဆွေ စစ်ဝန်ကြီးထံ ရေးခြင်းဖြစ်သော်လည်း ထိုစာမှာ ဘုန်း တော်ကြီးသောဘုရားထံသို့ ရောက်မည်ဟု တပ်အပ်

သိထားသည့်အတွက် စကားလုံးတိုင်းကို ကျနစွာ ရွေးချယ်၍ ရေးသားခဲ့ခြင်း ဖြစ်သည်။)

စမိုးလင့်မြို့ ရန်သူတို့လက်သို့ စွန့်ခဲ့ရပြီ ဖြစ် . ကြောင်းကို ယခု အချိန်၌ သွေးသောက်ဗိုလ်ချုပ်ကြီး ဘာကလေက အစီရင်ခံခဲ့ပြီး ဖြစ်လိမ့်မည်ဟု မျှော် လင့်ပါသည်။ စမိုးလင့်ကဲ့သို့ အချက်အချာကျလှသော မြို့တစ်မြို့ကို ယခုကဲ့သို့ အလွယ်တကူ စွန့်ခဲ့ရခြင်း မှာ များစွာဝမ်းနည်းဖွယ် ကောင်းလှပါသည်။ ယခု  ကဲ့သို့ အပ်လိုက်ခြင်းကြောင့် တပ်တော်တစ်ခုလုံး လည်း စိတ်ဓာတ်ပျက်ပြားလျက် ရှိပါသည်။ ဤသို့ ရန်သူ့လက်သို့ စွန့်လွှတ်ခြင်းမပြုရန် ဗိုလ်ချုပ်ကြီး ဘာကလေထံသို့ ကျွန်ုပ်ကိုယ်တိုင် စာရေးအကြောင်း ကြား၍ တတ်နိုင်သမျှ ကြိုးစားခဲ့သည်။ သို့ရာတွင် မည်မျှ ကြိုးစားစေ ဗိုလ်ချုပ်ကြီး ဘာကလေသည် ထိုအကြံကို လက်ခံခြင်းမပြုပြီ။ အကယ်၍သာ ကျွန်ုပ် အကြံပေးသည့်အတိုင်း စမိုးလင့်မှခံလျှင် နပိုလီယန် သည် တစ်ခါဖူးမျှ မတွေ့ဖူးသော အကျပ်အတည်း မျိုးနှင့် တွေ့ဆုံကာ သင်း၏တပ်တစ်ဝက် ပျက်စီး ဆုံးရှုံးရုံမျှမက စမိုးလင့်ကိုလည်း သိမ်းပိုက်နိုင်မည် မဟုတ်ကြောင်း ကျွန်ုပ်ကျမ်းကျိန်၍ ပြောရဲပါသည်။ ကျွန်ုပ်တို့တပ်များသည် ပြီးခဲ့သည့်တိုက်ပွဲများတွင် အစွမ်းကုန် ကြိုးစားတိုက်ခိုက်ခဲ့ကြ၍ ယခုလည်း ကြိုးစားတိုက်ခိုက်လျက် ရှိကြပါသည်။ ကျွန်ုပ်အထင် ၌ ကျွန်ုပ်တို့တပ်များသည် မည်သည့်အခါကမျှ ဤမျှလောက် စွမ်းစွမ်းတမံ တိုက်ခိုက်ခဲ့ကြခြင်း မရှိသေး ဟု ထင်ပါသည်။ ကျွန်ုပ်သည် စစ်သည်တပ်သား သောင်းငါးထောင်ဖြင့် ရန်သူတပ်များကို အသေအလဲ ခုခံခဲ့ရာ သုံးဆယ့်ငါးနာရီခန့် တိုက်ပွဲ ဖြစ်ပွားပြီး နောက် ရန်သူတို့ စစ်ခဲ့ကြသည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီးဘာကလေမှာကား စမိုးလင့်၌ ဆယ့် လေးနာရီမျှ ကြာအောင်ပင် ခုခံခြင်း မရှိ။ ဤအဖြစ် မှာ ရှက်

ဖွယ်လိလိ ဖြစ်ရုံမျှမက တပ်တော်ကြီး၏ဂုဏ် သိက္ခာကိုလည်း ညှိုးနွမ်းစေခဲ့ပြီ။ ဗိုလ်ချုပ်ဘာကလေ ၏ ဂုဏ်သိက္ခာကား ဆိုဖွယ်ရာ မရှိတော့ပြီ။ ကျွန်ုပ် အမြင်အရမူ ဗိုလ်ချုပ်ကြီးဘာကလေသည် လူ့ပြည်၌ ဆက်လက်နေထိုင်ခြင်းငှာပင် မထိုက်ပြီ။ အကယ်၍ ကျွန်ုပ်တို့ အကျအဆုံး အထိအရ များ၍ ဆုတ်ရခြင်း ဖြစ်သည်ဟု ဆိုလျှင် ထိုစကားသည် *မုသားစကား သာ ဖြစ်ပါသည်။ စမိုးလင့်တွင် ကျွန်ုပ်တို့တပ်များ ၏ အကျအဆုံးမှာ လေးထောင်ထက် ပိုမည် မဟုတ် ပါ။ အတိအကျပြောရလျှင် လေးထောင်ပင်ရှိမည် မဟုတ်ပါ။ ကျွန်ုပ်တို့၏ သဘောတွင်ကား လေး ထောင်မပြောနှင့်၊ တစ်သောင်းကျမည်ဆိုစေ စမိုး လင့်မှ ခံမည်သာဖြစ်သည်။ အကျအဆုံးမရှိသော စစ်ပွဲဟူ၍ အဘယ်မှာ ရှိမည်နည်း။ ကျွန်ုပ်တို့က ဤမျှလောက် အကျခံ၍ တိုက်လျှင် ကျွန်ုပ်တို့နိုင်မည် သာမက ရန်သူလည်း တပ်ပျက်မည် မုချဖြစ်သည်။ ကျွန်ုပ်တို့က စမိုးလင့်တွင် နောက်ထပ်နှစ်ရက် ကြာမျှ ခံနေလျှင် ကျွန်ုပ်တို့အဖို့ ဘာမျှထူး၍ ဆုံးရှုံး စရာ မရှိ။ အကယ်၍ နှစ်ရက်မျှဆက်ခံလျှင် ရန်သူ ၌ လူနှင့် မြင်းများအတွက် ရေမရှိက သင်းတို့ မုချစစ်ဆုတ်ရမည် ဖြစ်သည်။ ဗိုလ်ချုပ်ကြီး ဘာကလေ သည် စမိုးလင့်မှ ခံမည်ဟု ကျွန်ုပ်ထံ အကြောင်းကြား ထားသော်လည်း ချက်ချင်းပင် ယခုညပင် ခွာတော့ မည်ဖြစ်ကြောင်း ထပ်မံ အကြောင်းကြားပြန်သည်။ ဤနည်းဖြင့် ရန်သူကို ဆက်လက်ခုခံ၍ကား မဖြစ်ပြီ။ ဤသို့ဆိုလျှင် ရန်သူတို့ မကြာခင် မော်စကိုသို့ ရောက် တော့မည် ဧကန် ဖြစ်သည်။*

*ရောင်းရင်းတို့က နပိုလီယန်နှင့် ငြိမ်းချမ်းရေး ဆွေးနွေးရန် စဉ်းစားလျက်ရှိကြောင်းဖြင့် ကောလာ ဟလများ ဖြစ်ပွားလျက် ရှိသည်။ ဤမျှ အရှအနာ များစွာဖြင့် ဤမျှ အတိမ်းတိမ်းအပါးပါး ဆုတ်ခွာ ခဲ့ပြီးနောက်မှ*

ငြိမ်းချမ်းရေးဆွေးနွေးလျှင် ကျွန်ုပ်တို့၌ အရှက်ရချိမ့်မည်။ တစ်နိုင်ငံလုံး လည်း စိတ်နှလုံး မချမ်းမသာ ရှိကြတော့မည်။ အများပြည်သူတို့ ဒေါသ အမျက်ထွက်ကြမည်။ ကျွန်ုပ်တို့လည်း စစ်ဝတ်စုံ ကိုပင် မဝတ်ရဲအောင် အရှက်ရသည့်အဖြစ်သို့ ရောက် ကြတော့မည်။ ဤသို့ဆိုလျှင် ဖြစ်လိုရာ ဖြစ်စေတော့။ ကျွန်ုပ်တို့ အစွမ်းရှိသမျှ ခံနိုင်ရည်ရှိသမျှ တိုက်ခိုက် ကြရ တော့မည်။ စစ်တပ်တစ်တပ်ကို ဦးစီးကွပ်ကဲရာတွင် ဦးစီး ကွပ်ကဲသူ တစ် ယောက်သာ ရှိသင့်ပါသည်။ နှစ် ယောက် မရှိသင့်။ ဗိုလ်ချုပ်ကြီး ဘာဂက လေသည် အခြားနေရာများ၌ ကြံ့ရည်ဖန်ရည် ပြည့်ဝသည့် ပုဂ္ဂိုလ်တစ် ယောက် ဖြစ်ကောင်း ဖြစ်မည် ဖြစ်သော် လည်း ဗိုလ်ချုပ်တစ်ယောက် အနေဖြင့်ကား ထိုက်တန် ခြင်း မရှိရုံမျှမက များစွာစက်ဆုပ်ဖွယ် ကောင်း လှ ပါသည်။ ဤသို့သောပုဂ္ဂိုလ်တစ်ဦး၏လက်သို့ နိုင်ငံ တော်၏ကံကြမ္မာ ကို ဝကွက်အပ်ရမည်ဆိုလျှင် ကျွန်ုပ် တို့ ဒုက္ခလှလှကြီးတွေ့ဖို့သာ ရှိပါ တော့သည်။ ကျွန်ုပ်  မှာ ဤအရေးကို တွေးလိုက်တိုင်း စိတ်ဆင်းရဲခြင်း ကြီးစွာ ဖြစ်ရသည်။ ဤသို့ ပွင့်ပွင့်လင်းလင်းရေး ရခြင်းအတွက် ခွင့်လွှတ် လိမ့်မည်ဟု ကျွန်ုပ် မျှော်လင့် ပါသည်။ နပိုလီယန်နှင့် ငြိမ်းချမ်းရေး ချုပ်ဆို ရန် တိုက်တွန်းသူ ဗိုလ်ချုပ်ကြီး ဘာဂကလေအား တပ် မတော်တွင် ဆက်လက်ကွပ်ကဲရန် ထောက်ခံသူသည် ဘုန်းတော်ကြီးသောဘုရားကို ချစ်ကြည်လေးမြတ် ခြင်း မရှိကြောင်း ထင်ရှားပါသည်။ ထိုသူမျိုးသည် ကျွန်ုပ်တို့အားလုံး၏ ပျက်စီးဆုံးရှုံးခြင်းကို လိုလား သူသာဖြစ်လိမ့်မည်။ ထို့ကြောင့် ရောင်းရင်းကြီးထံ ပွင့်ပွင့်လင်းလင်း ရေးရခြင်း ဖြစ်ပါသည်။ ဤအချိန် တွင် အရေးပေါ်စစ်သည်များကို စုဆောင်းရန် အချိန် သင့်ပြီဟု ယူဆပါသည်။ ဤအတိုင်းသာ ဆိုပါက ဗိုလ်ချုပ်ကြီး ဘာဂကလေသည် ပြင် သစ် ညှော်သည် များကို မော်စကိုသို့ ပင့်ဖိတ်လျက် ရှိသကဲ့သို့သာ ရှိပါ

တော့သည်။ တပ်မတော်ကြီးတစ်ခုလုံးကလည်း ဘုန်းတော်ကြီးသော ဘုရား၏ ကိုယ်ရံတော်ဗိုလ်ချုပ် ကြီး ဝေါဇိုဂျင်အား သံသယဖြစ်လျက် ရှိပါသည်။

ဝေါဇိုဂျင်သည် ကျွန်ုပ်တို့ဘက်သားဖြစ်ရန်ထက် ပို - လီယန်ဘက်သားဖြစ်ဖို့က နီးစပ်ပါသည်။ ဤကဲ့သို့ - သောပုဂ္ဂိုလ်တစ်ယောက်က ဗိုလ်ချုပ်ကြီး ဘာကလေ . အား ကြိုးကိုင်နေသည်ဆိုလျှင် ကျွန်ုပ်တို့ အခြေအနေ ကို ရောင်းရင်းကြီး တွေးကြည့်နိုင်လောက်ပြီ။ ကျွန်ုပ် သည် ဗိုလ်ချုပ်ကြီးဘာကလေထက် ဝါကြီးသူတစ် ယောက်ဖြစ်သော်လည်း ၎င်း အပေါ်တွင် ယဉ်ကျေးစွာ ဆက်ဆံရုံမျှမက တပ်ကြပ်ကလေးတစ်ယောက်၏ သစ္စာရှိခြင်းမျိုးဖြင့် အမိန့်ကို နာခံပါသည်။ ဤသို့ ကိုယ့်ထက် ဝါနုသူတစ်ယောက်အောက်၌ အမှုထမ်း ရခြင်းမှာ ကျွန်ုပ်အဖို့ အသည်းနာဖွယ် ဖြစ်သော်လည်း ဘုန်းတော်ကြီးသောဘုရား၏ အကျိုးတော်အတွက် ကျွန်ုပ်၏ကိုယ်ရေးကိုယ်တာခံစားချက်တို့ကို ဥပေက္ခာ ပြု၍ နာခံခြင်းပြုပါသည်။ ဘုန်းတော်ကြီးသောဘုရား သည် သူရသတ္တိအရာတွင် မယှဉ်သာသော ကျွန်ုပ် တို့၏တပ်မတော်ကြီးအား ဤသို့သော ပုဂ္ဂိုလ်တစ် ယောက်လက်သို့ ဝကွက်၍ အပ်ရာသလောဟု တွေးမိ ၍ စိတ်မကောင်းခြင်းသာ ဖြစ်မိပါသည်။ ကျွန်ုပ်တို့  ဆုတ်ခွာလာခဲ့ရာ၌ လမ်းတွင် စစ်သည်တို့ပင်ပန်း နွမ်း နယ်၍ အရှုအနာ အသေအပျောက် များလှပါသည်။

ဆေးရုံတွင်လည်း စစ်သည် တပ်သား တသောင်း ငါးထောင်ခန့် တင်ထားရပါသည်။ ဤအခြင်းအရာ များကား ဆုတ်ခွာခဲ့ခြင်းကြောင့် ဖြစ်ပေါ်သောအကျိုး တရားများ ဖြစ်ပါသည်။ အကယ်၍သာ ရန်သူကို ခံတိုက်ခဲ့ပါက ဤအဖြစ်မျိုးကို ကျွန်ုပ်တို့ ကြုံရမည် မဟုတ်။ ကျွန်ုပ်တို့သည် ဤမျှ ရန်သူကို ချောက်ချား တုန်လှုပ်နေကြလျှင် ကျွန်ုပ်တို့၏အဖ ရုရှားနိုင်ငံ

*တော်ကြီးက ကျွန်ုပ်တို့အား မည်သို့ ပြောဆိုမည် ထင် ပါသနည်း။ သား ကောင်းမပီသသူများဟူ၍ ကဲ့ရဲ့ မည် မဟုတ်လော။ ကျွန်ုပ်တို့သည် ကျွန်ုပ် တို့၏အဖ နိုင်ငံတော်ကြီးအား ဤလူဆိုး၊ ဓားပြများလက်သို့ အဘယ်ကြောင့် အပ်နှင်းရမည်နည်း။ ကျွန်ုပ်တို့ နိုင်ငံ သူ နိုင်ငံသားများ အား အဘယ်ကြောင့် အရှက်တကွဲ အကျိုးနည်း အဖြစ်ခံရမည်နည်း။ ကျွန်ုပ်တို့သည် မည်သည့် အရာကို ကြောက်ရွံ့စိုးရိမ်ထိတ်လန့်နေကြ ဘိ သနည်း။ ဗိုလ်ချုပ်ကြီး ဘာကလေသည် ရဲရင့် ပြတ်သားသူ မဟုတ်။ သူရဲဘောနည်းသူ၊ ဉာဏ်နည်း သူ၊ နှောင့်နှေးဗျာပါဖြစ်သူ၊ အရည်အချင်း အနည်း ငယ်မျှပင် မရှိသူဟုဆိုလျှင် ကျွန်ုပ်အား ဘာမျှ အပြစ် ဆိုဖွယ် မ သင့်။ တပ်မတော်ကြီး တစ်ခုလုံးကပင် ဤသို့ယူဆလျက် စိတ်ပျက် အားလျော့စွာဖြင့် ၎င်းကို ကျိန်ဆဲလျက် ရှိကြပြီ။*

# အခန်း ၆

လူ့ဘဝ၏ ရေတွက်ခြင်းငှာ မစွမ်းနိုင်သော အကြောင်း ကိစ္စများအားလုံး တွင် အနှစ်သာရလွှမ်းမိုးသော အရာနှင့် အပေါ်ယံဟန်ဆောင်မှု လွှမ်းမိုးသောအရာ ဟူ၍ အမြဲတမ်း ရှိတတ်ကြလေသည်။

တောလက်ကျေးရွာ မြို့ငယ်နယ်ပယ်စသည်တို့မှ အခြင်းအရာများသည် အနှစ်သာရပြည့်ဝတတ်ကြ၍ မြို့ ကြီး၊ ပြကြီးများမှ အခြင်းအရာများကား အပေါ်ယံဟန် ဆောင်မှုတို့ လွှမ်းမိုးတတ်ကြလေသည်။ ပီတာစဘတ် ရွှေမြို့တော် မှ ပေါင်းသင်းဆက်ဆံရေးဘဝ၊ အထူးသဖြင့် ရွှေမြို့တော်ညှေ့ခန်းဆောင်များမှ ပေါင်းသင်းဆက်ဆံရေး ဘဝကား အပေါ်ယံ ဟန်ဆောင်မှုလွှမ်းခြင်းအရာ၌ ထိပ် ဆုံးက လိုက်တတ်ကြလေသည်။ ရွှေမြို့တော် ညှေ့ခံဆောင် များမှ ပေါင်းသင်း

ဆက်ဆံရေးဘဝသည် ယခင်ကကဲ့သို့ ပင် ပြောင်းလဲခြင်းမရှိ ဖြစ်ပေါ်လျက်ရှိလေသည်။ ၁၈၇၅ခုနှစ်မှစ၍ ယခုအချိန်အထိ ရုရှားနိုင်ငံသည် ဘိုနာပတ် နှင့် ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုခြင်း၊ ထပ်မံ၍ ရန်စစ် ဖြစ်ခြင်း၊ ဖွဲ့စည်းအုပ်ချုပ်ပုံဥပဒေသစ်များကို ရေးဆွဲ ခြင်း၊ ၎င်းတို့ကို ပြန်၍ ရုပ်သိမ်းခြင်း စသဖြင့် အပြောင်းအလဲအမျိုးမျိုး တွေ့ကြုံခဲ့ရပြီ ဖြစ်သော်လည်း မှန်နန်း အပျိုတော်ကြီး အင်နာပါဗလိုနာ၏ ဧည့်ခန်းဆောင်နှင့် ဟယ်လင်မင်းသမီးကလေး၏ ဧည့်ခန်းဆောင်မှ လူမှုဆက် ဆံရေးဘဝကား ၁၈၀၅- ခုနှစ်ကကဲ့သို့ ပြောင်းလဲခြင်းမရှိ ဘဲ မင်းပွဲသဘင်တခြိမ့်ခြိမ့်ဖြင့် စည်ကားလျက် ရှိလေ သည်။ မှန်နန်းအပျိုတော်ကြီးအင်နာပါဗလိုနာ၏ ဧည့်ခန်း ဆောင်၌ အထက်တန်းလွှာပုဂ္ဂိုလ်တို့သည် ယခင်ကကဲ့သို့ ပင် ဘိုနာပတ်၏အောင်ပွဲများအကြောင်းကို မကျေမချမ်း ပြောဆိုလျက်ရှိ၏။ များစွာသောဥရောပထီးဆောင်းမင်း တို့က ဘိုနာပတ်ထံ အောက်ကျို့သစ္စာခံကြခြင်း၊ နပိုလီ ယန် အောင်ပွဲများရနေခြင်း စသည်တို့သည် မှန်နန်းအပျို တော်ကြီးအင်နာပါဗလိုနာ အမှူးပြုသော ရွှေနန်းတော် အသိုင်းအဝိုင်းမှ ပုဂ္ဂိုလ်များအား ထိတ်လန့်ချောက်ချား ခြင်း၊ စိတ်မချမ်းသာခြင်း ဖြစ်အောင် ပြုနေသကဲ့သို့ ရှိ၏။ သို့ရာတွင် နိုင်ငံခြားရေးဝန်ကြီး ရွှန်ယန်းဆက်ကိုယ်တိုင် ကြွရောက်ဂုဏ်ပြုလေ့ရှိ၍ အသိဉာဏ်ပညာအရာ၌ ထက် မြက်သည့်မိန်းမတစ်ဦးဟု ၎င်းကိုယ်တိုင်က ချီးကျူးခြင်းခံ ရသော ဟယ်လင်မင်းသမီးကလေး၏ ဧည့်ခန်းဆောင်၌ ကား ယခင်ကကဲ့သို့ပင် နပိုလီယန်ကို “ကြီးမြတ်သော ပုဂ္ဂိုလ်ထူးကြီး” ဟုလည်းကောင်း၊ ပြင်သစ်လူမျိုးကို “ကြီး မြတ်သောလူမျိုး” ဟုလည်းကောင်း ချီးကျူးပြောဆိုလျက် ရှိကာ ပြင်သစ်နှင့် ထပ်မံစစ်ဖြစ်ရခြင်းကို ဝမ်းပန်းတနည်း ဖြစ်လျက် ရှိကြလေသည်။ ၎င်းအစုသည် ပြင်သစ်နှင့် စစ်ဖြစ်ပွားခြင်းကို ရပ်စဲ၍ ငြိမ်းချမ်းရေးစာချုပ် ချုပ်ဆိုရန် လိုလားလျက် ရှိလေသည်။

ဘုန်းတော်ကြီးသောဘုရား တပ်မတော်နှင့် ချီ တက်လိုက်ပါရာမှ ပြန်ကြွ တော်မူခဲ့ပြီးသည့်နောက်၌ အယူ အဆချင်း ပဋိပက္ခဖြစ်လျက်ရှိ၍ တစ်စုနှင့် တစ်စု ရန်ငြိုး ဖွဲ့လျက်ရှိသော ရွှေမြို့တော်ရှိ အထက်တန်းစား မှူးမတ် အုပ်စု များသည် လှုပ်လှုပ်ရွရွဖြစ်လာခဲ့ကြ၏။ ကိုယ့်အစု သာလျှင် မှန်ကန်သည်ဟု စွဲမြဲ လျက် ရှိကြ၏။ မှန်နန်း အပျိုတော်ကြီး အင်နာပါဗလိုနာ၏ အုပ်စု၌ကား အရိုးစွဲ နေသောဘုရင့်ဂိုဏ်းသား ပြင်သစ်လူမျိုးမှအပ ပြင်သစ် လူမျိုးဆိုလျှင် အခြားမည် သည့် ပြင်သစ်ကိုမျှ အဝင်မခံ ချေ၊ ထိုအုပ်စုသည် ဇာတိမာန်၊ ဇာတိသွေး တက်ကြွ ဖွယ် စကားများကို ပြောဆိုလျက် ပြင်သစ်ဇာတ်ပွဲများကို သပိတ် မှောက်သည် အထိ ပြင်သစ်ဆန့်ကျင်ရေးစိတ်ဓာတ် ပြင်း ထန်လျက် ရှိကြသည်။ ရွှေနန်းတော် ကြီးတွင် ပြင်သစ် ကချေသည်များကို ခန့်ထားဖြေဖျော်စေခြင်းသည် စစ်တပ် ဖွဲ့ ကြီး တစ်ဖွဲ့ စာလောက် စရိတ်စကများသည်ဟု ဝေဖန် ပြောဆို လျက်ရှိကြသည်။ ထိုအုပ်စုသည် စစ်အခြေအနေ ကို စိတ်အားထက်သန်စွာ စောင့်ကြည့်လျက်ရှိကာ ရုရှား တပ်မတော်အား ချီးမြှောက်သည့်သတင်းစကားများကိုသာ ပြောဆိုလျက်ရှိ ကြ၏။ မြို့စားကတော်လေး ဟယ်လင်နှင့် နိုင်ငံခြားရေးဝန်ကြီး ရွှန်ယန်းဆက် တို့၏ ပြင်သစ်လို လားသောအသိုင်းအဝိုင်း၌ကား ရန်သူများက ရက်စက် ကြမ်းကြုတ်စွာ ပြုမူကြသည်ဆိုသောသတင်းများနှင့် စစ်ပွဲ သတင်းများကို ငြင်းဆို လျက်ရှိကြကာ နပိုလီယန်က စေ့စပ်ဆွေးနွေးရန် ကမ်းလှမ်းနေသည်ဆိုသော သတင်းကို သာ တွင်တွင်ကြီးပြောလျက် ရှိကြ၏။ ထိုအသိုင်းအဝိုင်း ၌ ရွှေ နန်းတော်ကြီးအား ကာဇန်ဒေသသို့ ပြောင်းရွှေ့ရန် နှင့် မိန်းကလေးကျောင်းများကို ရွှေနန်းရှင်မယ်တော်ဖုရား ၏ ကြီးကြပ်မှုအောက်တွင်ထားရှိရန် ပြောဆိုသူများကို ရှုတ်ချကဲ့ရဲ့ သော မျက်နှာထားဖြင့် ကြည့်တတ်လေသည်။ မြို့စားကတော်လေး ဟယ်လင်၏အသိုင်းအဝိုင်းတွင် ယခု ဖြစ်ပွားလျက်ရှိသော တိုက်ပွဲများသည် စစ် ဖြစ်နေချိန်ကာလ တွင် ထုံးစံဖြစ်သည့်အလျောက် နှစ်ဖက်စလုံးက စိတ်မပါ ဘဲ

တိုက်ခိုက်ရသော သာမန်တိုက်ပွဲများသာဖြစ်၍ ခဏ ကြာလျှင် ငြိမ်းချမ်းရေးရ တော့မည်ဟု ယူဆလျက်ရှိလေ သည်။ ထို့ပြင် "ပြဿနာများကို ကျည်ဆန်ဖြင့် ဖြေရှင်း ခြင်းပြု၍ မရ။ ကျည်ဆန်ကို လုပ်သူ လူအချင်းချင်း တွေ့ဆုံဆွေးနွေးမှ ရ မည်" ဟူသော သံတော်အရာရှိ ဘီလီ ဘင်၏အယူအဆသည်လည်း မြို့စား ကတော်လေး ဟယ်   လင်၏အုပ်စုတွင်းတွင် လွှမ်းမိုးလျက်ရှိလေသည်။ ဘီလီ ဘင်မှာ ယခုအချိန်၌ ပီတာစဘတ်ရွှေမြို့တော်တွင် ရောက် ရှိလျက်ရှိလေရာ ပညာဉာဏ်အမြော်အမြင်ရှိသူတိုင်း သွား ရောက်လည်ပတ်လေ့ရှိသော မြို့စား ကတော်ကလေး ဟယ် လင်၏စံအိမ်တွင် ကိုယ့်အိမ်သဖွယ်နေသားကျလျက် ရှိ လေ၏။ မြို့စားကတော်လေး ဟယ်လင်၏အုပ်စုသည် ဘုန်းတော်ကြီးသောဘုရား မော်စကိုသို့ ကြွရောက်တော် မူစဉ် မော်စကိုမြို့သူ မြို့သားတို့ စစ်စိတ်စစ်သွေး ဇာတိ မာန်၊ ဇာတိသွေး အလွန်အမင်း တက်ကြွလျက်ရှိခြင်းကို ကြားသိရသည့် အခါ၌ ထိုသို့ ဇာတိမာန်တက်ကြွလျက် ရှိခြင်းကို တလွဲဆံပင်ကောင်းကြသည် ဟူသော သဘော ဖြင့် မသိမသာ နှာခေါင်းရှုံ့၍ ကဲ့ရယ်ခြင်းပြုကြလေသည်။

သို့ရာတွင် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ ၏အုပ်စုပ်ကား မော်စ ကိုမြို့သူ၊ မြို့သားများက နပိုလီယန် ကို ခါးခါးသီးသီး မုန်းကာ စိတ်ဓာတ်ပြင်းထန် လျက် ရှိ ခြင်းကိုကြားရသည့်အခါ၌ ရွှင်လန်းအားရလျက်ရှိကြကာ ခေါမ စာရေးဆရာကြီး ပလူးတပ်သည် ရေးခေါမစစ်သည် တို့၏သူရသတ္တိကို ချီးကျူး သကဲ့သို့ မော်စကိုမြို့သူ မြို့သား တို့၏ ဇာတိသွေး၊ ဇာတိမာန်ထက်သန်ခြင်းကို ချီးကျူးခြင်း ပြုကြကုန်၏။ ယခင်ကကဲ့သို့ အရေးကြီးသော ရာထူးကြီး များတွင် ဆောင်ရွက်လျက်ရှိသည့် မင်းသားကြီး ဗာစီလီ ကား ထိုအတိုက်အခံ အုပ်စုနှစ်စု ကြားတွင် ကူးချည် သန်း ချည်ပြုလျက်ရှိ၏။ မင်းသားကြီးဗာစီလီသည် ၎င်း၏ ရောင်းရင်းမိတ်ဆွေကြီးဖြစ်သော မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာထံသို့ လည်း လည်ပတ်လေ့ရှိ၍ ၎င်း၏ သမီးတော် မြို့စားကတော်ကလေးဟယ်လင်၏

"သံတော် အရာရှိများစုဝေးတတ်သော ဧည့်ခန်းဆောင်"သို့လည်း မကြာခဏ သွားရောက်တတ်၏။ မင်းသားကြီးဗာစီလီ သည် ဤသို့ဖြင့် အတိုက်အခံဖြစ်လျက် ရှိသော အုပ်စုနှစ်စု ကြားတွင် ကူးချည်သန်းချည်ပြုဖန်များလာသောအခါ၌ သမီး တော်မြို့စားကတော်ကလေးဟယ်လင်တို့အုပ်စုတွင် ပြောရမည့်စကားများကို မှန် နန်းအပျိုတော်ကြီး အင်နာပါ ဗလိုနာတို့အုပ်စု၌ ပြောမိလျက်၊ မှန်နန်းအပျိုတော် ကြီးတို့ ဝိုင်းတွင်ပြောရမည့်စကားများကို သမီးတော်ဟယ်လင်တို့ ဝိုင်း၌ ပြောမိ လျက်ဖြစ်ကာ အယောင်ယောင်အမှားမှား" ဖြစ်လျက် ရှိလေသည်။

ဘုန်းတော်ကြီးသောဘုရား စစ်မြေပြင်မှ ရွှေမြို့ တော်သို့ ပြန်လည်ရောက်ရှိ လာပြီး မကြာမီတွင် မင်းသား ကြီး ဗာစီလီသည် မှန်နန်းအပျိုတော်ကြီး အင်နာပါ ဗလိုနာ တို့ဝိုင်းတွင် စစ်နှင့် ပတ်သက်၍ စကားစပ်မိကြရာမှ တပ်မတော် သေနာပတိချုပ် ဗိုလ်ချုပ်ကြီးဘာကလေကို ပြင်းပြင်းထန်ထန် ဝေဖန်ပြောဆိုမိ လေသည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီး ဘာကလေအစား မည်သူ့အား စစ်သေနာပတိ ချုပ် ခန့်အပ်သင့်ကြောင်းနှင့် ပတ်သက်၍မူ မင်းသားကြီး ဗာစီလီ၏စိတ်ထဲတွင် စိတ်ကူးထားချက် မရှိချေ။ ထိုတွင် ဧည့်ပရိသတ်ထဲမှ "ဉာဏ်ပညာကြီးကျယ်သည့် ပုဂ္ဂိုလ်" ဟု ထင်ရှားလျက်ရှိသောပုဂ္ဂိုလ်တစ်ဦးက ပီတာစဘတ် ရွှေမြို့တော် အရေးပေါ်စစ်သည်စု၏ စစ်သေနာပတိခန့်အပ် ခြင်းခံရသော ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်အား ရွှေတိုက် တော်ဝင်းထဲ၌ အရေးပေါ်စစ်သည်စုများကို သြဝါဒမိန့်ခွန်း မြွက်ကြားနေသည်ကို မြင်ခဲ့ရကြောင်းဖြင့် ပြန်လည်ပြော ပြကာ တပ်မတော် သေနာပတိချုပ်အဖြစ် ဆောင်ရွက်နိုင်ရန် အဘက်ဘက်မှ အရည်အချင်းပြည့်ဝ သည့်ပုဂ္ဂိုလ်မှာ ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ်တစ်ယောက်သာလျှင် ရှိသည်ဟု မရဲ တ ရဲပြောဆိုလိုက်သည်။

ဤတွင် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာက စိတ်ရှုပ်သည့်အပြုံးမျိုး ဖြင့် ကူတူဇော့ဗ်မှာ ဘုန်းတော်ကြီး သောဘုရားအား စိတ်နှလုံးပြုငြင်စေခြင်းမှ

အပ အခြား ဘာမျှလုပ်တတ်သူ မဟုတ်ကြောင်းဖြင့် ပြောဆိုလိုက်၏။

"မှူးမတ်များရဲ့ ညီလာခံမှာ ကျုပ်လဲ ခဏ ခဏ ပြောခဲ့တာပဲ" မင်းသားကြီး ဗာစီလီက ဝင်ရောက်ပြောဆို လိုက်သည်။ "ဒါပေမဲ့ ခက်တာက ကျုပ်စကားကို ဘယ် သူကမှ လက်မခံကြဘူးဗျ၊ ကူတူဇော့ဗ်ကို အရေးပေါ် စစ်သည်စုရဲ့ သေနာပတိချုပ်အဖြစ် တင်မြှောက်တာကို ဘုန်းတော်ကြီးသောဘုရားက နှစ်သက်တော်မူမယ် မဟုတ် ဘူးလို့ ကျုပ် ထပ်တလဲလဲပြောခဲ့တယ်၊ သူတို့ အားလုံးက လက်မခံကြဘူး" မင်းသားကြီးဗာစီလီက ခေတ္တနားပြီးမှ စကားဆက် လိုက်ပြန်သည်။

"ခက်တာပဲ ခုခေတ်လူတွေကလဲ ထစ်ခနဲဆိုရင် အတိုက်အခံ လုပ်ချင်နေကြ တော့တာပဲ၊ ဘာကြောင့်များ ဒီလောက်အတိုက်အခံ လုပ်ချင်နေကြရသလဲ မသိပါ ဘူး၊ သူတို့ ကျုပ်စကားကို အတိုက်အခံလုပ်တော့ ဘာအကျိုး  ထူးမှာလဲ၊ မော်စကို ကလူတွေ ဘုမသိဘမသိနဲ့ အလကား နေရင်း ပုဆိုးခြုံထဲက လက်သီးပြနေတာ မျိုး ကျုပ်တို့က လိုက်လုပ်ရမှာလား"

မင်းသားကြီး ဗာစီလီသည် စကားမှားသွားပြီကို မသိသေးချေ။ အမှန် အားဖြင့် မော်စကိုမြို့သူ မြို့သားများ ၏ဇာတိမန်တက်ကြွခြင်းကို ရှုတ်ချကဲ့ရဲ့ သောအုပ်စုမှာ သမီးတော်ဟယ်လင်၏အုပ်စုသာဖြစ်၏။ မှန်နန်းအပျို တော် ကြီး၏အုပ်စုမှာ မော်စကိုမြို့သူ မြို့သားတို့၏ ဇာတိ မာန်ကို ချီးကျူးသြဘာပေး နေသည့်အုပ်စု ဖြစ်လေသည်။ ( မင်းသားကြီး ဗာစီလီသည် ခေတ္တမေ့၍ပြောလိုက် ပြီးမှ မိမိ ( အမှားကို ချက်ချင်းသတိရကာ ပြင်ပြောလိုက်ရ၏။

"ကြည့်စမ်းပါဦးဗျာ၊ ခုလဲ ကျုပ်တို့နိုင်ငံမှာ အအို ဆုံးဖြစ်တဲ့ ဗိုလ်ချုပ်ကိုရွေး ပြီးမှ အရေးပေါ်စစ်သည်စုရဲ့ သေနာပတိချုပ် ခန့်သတဲ့၊ ဒီထက်အသက်ငယ်တဲ့ ဗိုလ်ချုပ် တွေ တစ်ပုံတစ်ခေါင်းကြီးပါ၊ ကူတူဇော့ဗ်က မြင်းပေါ် တောင်

ကောင်းကောင်းမတကန်နိုင်တဲ့လူ၊ အရေးပေါ်စစ် အစည်းအဝေးတွေမှာ အိပ်ငိုက်နေတဲ့လူ၊ အကျင့်စာရိတ္တ ဆိုတာလဲ ပျက်စီးချင်တိုင်း ပျက်စီးနေတဲ့လူ၊ ဒီလူကို ၊ အရေးပေါ်စစ်သည်စု သေနာပတိသွားခန့်တော့ ဘယ့်နှယ့် လုပ်သုံးတော့မှာလဲ၊ ဘူခါရက်မှာတုန်းကလဲ မိန်းမပွေ နေတာနဲ့ အချိန်ကုန်နေတာပဲ မဟုတ်လား၊ စစ်ဗိုလ်ချုပ် တစ်ယောက်အနေနဲ့ အရည်အချင်းရှိတယ်ဆိုတာ ကျုပ် မငြင်းလိုပါဘူး၊ သို့သော်လဲ ခုလို သေရေးရှင်ရေးအချိန် ကြီးမှာတော့ ဒီလိုမစွမ်းမသန် အိုနာကျနေတဲ့အကန်းကို ခန့်လို့ ဘာအသုံးကျမှာလဲ၊ ဟင်း အကန်းကို ဗိုလ်ချုပ် ခန့်သတဲ့ဗျာ၊ အရပ်ရပ်နေပြည်တော် ကြားလို့မှ မတော် အောင် ဖြစ်နေပြီ၊ ကန်းတာက တကယ်ကန်းတာဗျ၊ ကန်း ဆို ဘာမှကို မြင်ရတာ မဟုတ်ဘူး၊ သူ့ကို သေနာပတိ ခန့်ပြီး စစ်တိုက်ခိုင်းရင် မမြင်မျက်ကန်းနဲ့ ညောင်ပင်တစ္ဆေ ဝေလေလေ အကစားခိုင်း သလိုပဲ ဖြစ်တော့မှာပေါ့”

မင်းသားကြီး ဗာစီလီ၏စကားများကို မည်သူ ကမျှ ထင်မြင်ချက်မပေးကြချေ။

မင်းသားကြီး ဗာစီလီ၏စကားသည် ဇူလိုင်လ ၂၄ ရက်နေ့အထိ မှန်နေသေး၏။ သို့ရာတွင် ဇူလိုင်လ ၂၉ရက်နေ့၌ကား ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသား ကြီးဘွဲ့ထူးကို ချီးမြှင့်ခြင်း ခံရလေသည်။ ကူတူဇောဝ်  အား ဤသို့ မင်းသားကြီးအဆောင်အယောင်ဘွဲ့ထူးများ ပေးအပ်ခြင်းမှာ တပ်မတော်မှ တစ်ဖက်လှည့်ဖြင့် ထုတ် ခြင်းလည်းဖြစ်နိုင်သေးသဖြင့် မင်းသားကြီး ဗာစီလီသည် ယခင်ကအတိုင်းပင် ကူတူဖော့ဗ်နှင့် စပ်လျဉ်း၍ အထင် သေးမြဲသေးလျက်ရှိသေး၏။ သို့ရာတွင် ယခင်ကလောက် ပြောင်ပြောင်တင်းတင်း ထုတ်ဖော်ပြောဆိုခြင်းမျိုးကား မလုပ်တော့ချေ။ သို့ရာတွင် ဩဂုတ်လ ၈-ရက်နေ့၌ စစ်သူကြီး ဆယ်တီကော့ဗ်၊ စစ်ဝန်ကြီး အာရတ်ချေ၊ ဗျာဇီ မီတော့၊ လိုပူခင်နှင့် ကိုချူဘေးတို့ပါဝင်သည့် ကော်မတီ တစ်ခုသည် စစ်အခြေအနေအရပ်ရပ်ကို စဉ်းစားဆွေးနွေး ရန်

အတွက် အစည်းအဝေး ကျင်းပလေ့ရှိသည်။ ထိုအစည်း အဝေးက ရုရှားတို့ အရေး နိမ့်နေရခြင်းမှာ တပ်မတော် ကွပ်ကဲမှုတွင် တစ်သွေးတည်းတစ်ညီတည်း မရှိခြင်း ကြောင့် ဖြစ်သည်ဟု ကောက်ချက်ဆွဲထုတ်လိုက်လေသည်။ ထို့ နောက် ဘုန်း တော်ကြီးဘုရားသည် ကူတူဇော့ဗ်ကို များစွာ နှစ်သက်ခြင်း မရှိသော်လည်း ၎င်းကို ပင် တပ်မတော်၏ စစ်သေနာပတိချုပ်အဖြစ် ခန့်အပ်ရန် အချိန်အနည်းမျှ စဉ်းစား ပြီးနောက် ဆုံးဖြတ်လိုက်၏။ ထိုနေ့၌ပင် အာဏာ ကုန်လွှဲအပ်ခြင်းခံရသော တပ် ပေါင်းစုံ သေနာပတိချုပ်နှင့် တပ်တော်များသိမ်းပိုက်ထားရာ ဒေသများ၏ အာဏာကုန် လွှဲအပ်ခြင်းခံရသော ဦးစီးချုပ်အဖြစ် ဗိုလ်ချုပ်ကြီးကူတူ ဇော့ဗ်အား ခန့်အပ်လိုက်လေသည်။ ။ ဩဂုတ်လ ၉-ရက်နေ့တွင် မင်းသားကြီး ဗာစီလီ သည် "ဉာဏ်ပညာကြီးမားသော ပုဂ္ဂိုလ်ကြီး' နှင့် မှန်နန်း အပျိုတော်ကြီးအင်နာပါဗလို နာ၏ ညော့ခံပွဲတွင် တွေ့ဆုံ ပြန်လေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် အမျိုးသမီး ပညာရေး ဌာနများတွင် ညွှန်ကြားရေးဝန်အဖြစ် ခန့်အပ်ခြင်းခံရရန် အတွက် မှန် နန်းအပျိုတော်ကြီး အင်နာပါဗလိုနာထံတွင် မျက်နှာသာရအောင် ကြိုးစားလျက်ရှိ သည်။ မင်းသားကြီး ဗာစီလီသည် အကြံအစည်အောင်မြင်သူ တစ်ယောက်၏ ပျော်ရွှင်လျက်ရှိသော ဟန်မျိုးဖြင့် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ၏ ညော့ခန်းဆောင်သို့ ဝင်ရောက်လာခဲ့ လေသည်။

"ဘယ့်နှယ်လဲ အင်မတန်ထူးတဲ့ သတင်းထူးများ တစ်ခုကို ကြားပြီးကြပ လား၊ မင်းသားကြီး ကူတူဇော့ဗ်ကို စစ်သေနာပတိချုပ်အဖြစ် ရွေနန်းတော်ကြီးက ခန့်အပ်  လိုက် ပြီတဲ့ဗျ။ ဝိဝါဒကွဲပြီး အငြင်းပွားစရာ မလိုတော့ဘူး ပေါ့ဗျာ၊ ကျုပ် တော့ သိပ်ဝမ်းသာသဗျ၊ ဝမ်းသာဆို အတိုင်း ထက်အလွန်ပဲဗျ၊ နိုင်ငံတော်ကြီးရဲ့ အကျိုးကို နင်လား ငါလား အရိုးကြေကြေ အရေခန်းခန်းဆောင်ရွက်နိုင်တဲ့ ပုဂ္ဂိုလ် မျိုးကို ရတာပဲဗျ၊ အိမ်း သင့်မြတ်ပါပေတယ်။ သင့်မြတ်ပါပေတယ်" ။ .

မင်းသားကြီးဗာစီလီသည် ဧည့်ခန်းဆောင်ထဲရှိ မင်းပရိသတ်တစ်ဦးစီ၏ မျက်နှာများကို လေးနက်တည် ငြိမ်သောအမူအရာဖြင့် လိုက်ကြည့်နေသည်။

"ဉာဏ်ပညာကြီးမားသူ"ဟု ကင်ပွန်းတပ်ခံရသည့် ပုဂ္ဂိုလ်ကြီးသည် ညွှန်ကြားရေးဝန်ရာထူးကို ရရန်အတွက် မင်းသားကြီးဗာစီလီ၏အကြိုက်ကို လိုက်ရမည်မှန်သော် လည်း မင်းသားကြီးဗာစီလီ၏ ဗလောင်းဗလဲနိုင်လှသော စကားများကို အမှတ်ရလာသည်။ မင်းသားကြီး ဗာစီလီ သည် မနေ့တစ်နေ့ကပင် ကူတူဇော့ဗ်အား နှိပ်နှိပ်နယ်နယ် ပြောခဲ့သည် မဟုတ်လော။ "ဇရာအို ရွတ်ကြီး" ဟု လည်းကောင်း၊ "အကန်းကြီး´ဟု လည်းကောင်း ပြောခဲ့ သည် မဟုတ်လော။ "ဉာဏ်ပညာ ကြီးမားသူ" ပုဂ္ဂိုလ်ကြီး ၏စိတ်၌ မင်းသားကြီး ဗာစီလီ၏ ယခင်က ထင်မြင်ချက် များကို ပြန်၍အစဖော်ပေးလိုစိတ်များ တဖွားဖွားပေါ်လာ ၏။ ဤသို့ ပြန်၍အစဖော်ပေးလိုက်ပါက သတင်းထူးကြီး ကို ဝမ်းသာအားရပြောဆိုလျက်ရှိသည့် မင်းသားကြီး ဗာစီလီနှင့် သတင်းထူးကြီးကို ဝမ်းသာအားရနားထောင် လျက်ရှိသည့် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာတို့ ကို ရိုင်းပြစော်ကားရာရောက်မည် မှန်သော်လည်း ဖွင့် ပြောလိုစိတ်ကို မချုပ်တည်းနိုင်တော့ချေ။

"နို့ နေစမ်းပါဦး မင်းသားကြီးရဲ့ ၊ မင်းသားကြီး ကူတူဇော့ဗ်ဟာ ဇရာအို ရွတ်ကြီး၊ တစ်ဖက်ကန်းကြီး လို့ တချို့ကပြောနေကြပါကလား" ထိုပုဂ္ဂိုလ်ကြီးက မင်းသားကြီး ဗာစီလီ၏စကားများကို ပြန်၍ အစဖော်ပေး လိုက်သည်။

"အလိုလေးလေး ဒါက သက်သက် မလိုတမာ ပြောကြတာတွေပါ၊ ဘယ့်နှယ်ကန်းရမှာလဲ၊ မြင်လိုက် သမှ ဟိုဘက်တောင်လွန်သေး" မင်းသားကြီး ဗာစီလီက အသံသြသြကြီးဖြင့် ပြောလိုက်ရင်း ချောင်းဆိုးလိုက်သည်။ ထိုသို့ အသံကိုလုပ်၍ပြောခြင်းနှင့် ချောင်းဆိုးခြင်းမှာ မင်းသားကြီး ဗာစီလီ အကျပ်တွေ့နေသည့်အခါ၌ ပြုလေ့ ရှိသောအပြုအမူများ ဖြစ်လေသည်။

“မြင်ပါတယ်ဗျ၊ ဘယ့်နှယ် မမြင်ရမှာလဲ” မင်း သားကြီးဗာစီလီက ဆို၏။ “ကျုပ် ဝမ်းသာရတဲ့အကြောင်း ကတော့ တခြားအကြောင်း မဟုတ်ဘူးဗျို့၊ ဘုန်းတော် ကြီးသောဘုရားက ကိုယ်တော်ကြီး ကူတူဇော့ဗ်ကို အာ ဏာကုန်လွှဲအပ်ခြင်းခံရတဲ့ တပ်ပေါင်းစုံ သေနာပတိချုပ် ကြီးအဖြစ်နဲ့တကွ တပ်တော်များ စခန်းကျထားတဲ့ဒေသ များမှာ ကိစ္စအဝဝ စီရင်အုပ်ချုပ်ပိုင်ခွင့် အာဏာများ အားလုံးနှင်းအပ်လိုက်တဲ့အတွက်ကြောင့်ပဲ၊ ဘယ်စစ်သေ နာပတိမှ ဒီလောက်အာဏာကုန်အပ်နှင်းခြင်း မခံရသေး ဘူးဗျ၊ ခုတော့ ကိုယ်တော်ကြီး ကူတူဇော့ဗ်ဟာ ဘုန်းတော် ကြီးသောဘုရားက လွှဲရင် ဧကရာဇ်တစ်ဆူ ဖြစ်နေပြီလို့ ဆိုရပေတော့မှာပဲဗျ”

' မင်းသားကြီး ဗာစီလီက အောင်မြင်သောအပြုံး ဖြင့် နိဂုံးချုပ်လိုက်သည်။

“ဘုရားသခင် စောင်မတော်မူတာပဲ ကိုယ်တော် ကြီးရေ၊ ဘုရားသခင် စောင်မတော်မူတာပဲ” မှန်နန်း အပျိုတော်ကြီးက ဆိုသည်။

ရွှေနန်းတော်အသိုက်အဝန်းများ၌ မည်သို့ မည်ပုံ ပြုမူဆက်ဆံမည်ကို မသိသေးသော လူစိမ်းတစ်ယောက် ဖြစ်သည့် “ဉာဏ်ပညာကြီးမားသော ပုဂ္ဂိုလ်ကြီး” မှာကား မှန်နန်းအပျိုတော်ကြီးက ကူတူဇော့ဗ်အား နှစ်သက်ခြင်း မရှိဟူ၍သိထားသည့်အလျောက် ၎င်း၏အကြိုက်ကို ဆောင်ချေဦးမှဖြစ်မည်ဟု အကြံရလျက်

”ဘုန်းတော်ကြီးသောဘုရားက ကူတူဇော့ဗ်ကို အာဏာအပ်နှင်းတဲ့ကိစ္စမှာ နှစ်သက်တော်မူခြင်း မရှိဘူး ဆိုပါကလား၊ ဒီရာထူးကို ခန့်အပ်ကြောင်း မိန့်တော်မူတဲ့ အချိန်မှာလဲ ဘုန်းတော်ကြီးသောဘုရား မျက်နှာတော် မသာဘူးလို့ ကြားတယ်ခင်ဗျ။ အဲဒီတုန်းက ဘုန်းတော် ကြီးသောဘုရားရဲ့ မျက်နှာတော်ဟာ လာဖွန်တိန်ရဲ့ ညစ် ညမ်းတဲ့ဝတ္ထုတစ်ပုဒ်ကိုဖတ်ရတဲ့ အပျိုတော်သူငယ်မလေး တစ်ယောက်ရဲ့ မျက်နှာလို နီရဲနေတာပဲလို့တောင် တချို့က ပြောကြတယ်၊ “ဘုန်းတော်ကြီးသော

ဘုရားနှင့် အဖနိုင်ငံ တော်ကြီးက ဤတာဝန်များကို သင့်အား ချီးမြှင့်လိုက် သည်” လို့ ဘုန်းတော်ကြီးဘုရားက မြွက်တော်မူရပေမယ့် ရွှေမျက်နှာတော်ညိုလို့တဲ့”

“ဒီစကားကို ရွှေနန်းတော် ထုံးတမ်းစဉ်လာအတိုင်း ပြောရပေမယ့် ဘုန်းတော်ကြီးသောဘုရားမှာ စိတ်လက် ကြည်သာတော်မူခြင်း ရှိဟန်မတူဘူး ထင်ပါရဲ့” မှန်နန်း အပျိုတော်ကြီးက ပြောလိုက်သည်။

“အို အို ဒီလို ဟုတ်နိုင်ရိုးလားဗျာ” မင်းသားကြီး ဗာစီလီက အလေသုံးဆယ်ကန့်ကွက်၏။ ယခုအချိန်၌ မင်းသားကြီး ဗာစီလီသည် ကူတူဇာဗ်ကို ထိလျှင် ' မချီ အောင် နာလျက်ရှိလေပြီ။ မင်းသားကြီးဗာစီလီ၏ စိတ်၌ မိမိ တစ်ဦးတည်းသာမက လူအားလုံးပင် ကူတူဇော့ဗ်ကို ကြည်ညို လေးစားလျက် ရှိသည်ဟု ထင်မှတ်လျက် ရှိ လေပြီ။ “ဘုန်းတော်ကြီးသောဘုရားက ရွှေမျက်နှာတော် မညိုတဲ့အပြင် ကူတူဝေ့ဗ်လို ဘုန်းလက်ရုံးနဲ့ ပြည့်စုံတဲ့ ပုဂ္ဂိုလ်မျိုးကို နဂိုက လေးစားချစ်ခင်တော်မူရင်းရှိသည့် အလျောက် များစွာ ဝမ်းမြောက်တော်မူသတဲ့ ခင်ဗျ”

“အိမ်း ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်ဟာ အပ်နှင်းခြင်း ခံရတဲ့ အာဏာများကို တကယ် ကိုယ်ထိလက်ရောက် အသုံးချနိုင်ပြီး မည်သည့်ပုဂ္ဂိုလ်မျိုးကမှ နှောင့်ယှက်ဖျက်ဆီး ခြင်းမရှိပါစေနဲ့လို့ ဘုရားသခင်ထံ ဆုတောင်းရပေတော့ မှာပဲ” မှန်နန်းအပျိုတော်ကြီးက ပြောလိုက်သည်။

ဤတွင် မှန်နန်းအပျိုတော်ကြီးက မည်သူ့ကို ရည်ရွယ်၍ပြောလိုက်ကြောင်း မင်းသားကြီးဗာစီလီ ရိပ် စားမိလိုက်သဖြင့် မှန်နန်းအပျိုတော်ကြီးဘက်သို့ လှည့်၍ လေသံကလေးဖြင့်

”ဒါအတွက်လဲ သိပ်ပြီး စိုးရိမ်နှောင့်လို့ ကြောင့် ကြစရာရှိတော့မှာမဟုတ်ပါဘူး အစ်မတော်ကြီးရဲ့ ၊ မင်း သားကြီး ကူတူဇော့ဗ်ရာထူးကို လက်ခံတုန်းက

တပ်မတော် ကိစ္စများမှာ အိမ်ရှေ့ဥပရာဇာ ကိုယ်တော်ကြီးတို့ ဝင် ရောက်စွက်ဖက်ခြင်း မပြုစေရဘူး၊ တပ်တော်များနှင့် အတူ ချီတက်လိုက်ပါစေခြင်း မပြုရဘူးဆိုတဲ့ခြွင်းချက်ကို တောင်းပြီးမှ ရာထူးကို လက်ခံတာပါ၊ ကြည့်စမ်း ကူတူ ဇော့ဗ်ရဲ့ သတ္တိက အာဂသတ္တိဗျနော်၊ ဘုန်းတော်ကြီးသော ဘုရားကိုယ်တော်တိုင်ထံမှာ တောင် ဒီလိုခြွင်းချက်မျိုးကို ဝံ့ဝံ့စားစားတောင်းရဲတဲ့သတ္တိခင်ဗျ၊ သတ္တိကတော့ ရှာမှ . ရှားပါပေတယ်ဗျာ”

” ထို့နောက် မင်းသားကြီး ဗာစီလီသည် ကူတူဇောဝ်  က ဘုန်းတော်ကြီးသောဘုရားထံ လျှောက်တင်သည်ဆို သောစကားလုံးများကိုပင် ရွတ်ဆိုပြနေသေး၏။ ထိုစကား ရပ်များမှာ “ဘုန်းတော်ကြီးသောဘုရား၏ နောင်တော် အမှားပြုလျှင်လည်း ကျွန်တော်မျိုး သူ့ကို အပြစ်မပေးလို။ မှန်လျှင်လည်း မချီးမြှောက်လို။ အရှင့်နောင်တော်အား ဥပေက္ခာသာပြုလိုသည်” ဟူသော စကားရပ်များ ဖြစ်၏။

“အိမ်း ကိုယ်တော်ကြီး ကူတူဇော့ဗ်ကတော့ မုန် သောက်မာတင်ကဲ့သို့ နှလုံးရည် လက်ရုံးရည် စွယ်စုံ ပြည့်တဲ့ ပုဂ္ဂိုလ်ကြီးပဲခင်ဗျ၊ ကျုပ် ကောင်းကောင်း သိတာ ပေါ့၊ မသိဘဲ နေနိုင်ရိုးလားလေ၊ ငယ်ပေါင်းကြီးဖော် တွေကပဲ”

“ပညာဉာဏ်ကြီးမားသည့်” ပုဂ္ဂိုလ်ကြီးကား ယခု တိုင် ရွှေနန်းတော်သူ ရွှေနန်းတော်သားတို့၏ ပရိယာယ် ဝေဝုစ်တို့ကို နားလည်ခြင်း မရှိ။ ပြောအပ်သည်၊ မပြော အပ်သည်တို့ကိုလည်း မစဉ်းစားနိုင်သေးဘဲ စိတ်ထဲတွင် မရှင်းလင်းသည်တို့ကို ထုတ်ဖော်ပြောဆိုနေပြန်သည်။

“နေစမ်းပါဦး မင်းသားကြီးရဲ့၊ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် စစ်သေနာပတိ ရာထူးကို လက်ခံတုန်းက ဘုန်းတော်ကြီးသောဘုရား ကိုယ်တော်တိုင် တပ်မတော် ကိစ္စတွေထဲမှာ ဝင်ရောက်စွက်ဖက်ခြင်း မပြုရဘူး၊ တပ် မတော်နဲ့ လိုက်ပါချီတက်

ခြင်းမပြုရဘူးဆိုတဲ့ စည်းကမ်း ချက်ကိုလဲ အတိအလင်းတောင်းတယ်လို့ ပြောနေကြ ပါကလား”

ထိုစကားကိုကြားသည့် မင်းသားကြီး ဗာစီလီနှင့် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာတို့ နှစ်ယောက် စလုံးသည် တစ်ဖက်သို့ မျက်နှာလွှဲသွားကြပြီး နောက် ထီးမူ နန်းလေ့များကို မသိရာသလောဟူသောသဘောဖြင့် သက် ပြင်းကြီး ကိုယ်စီချလိုက်ကြကာ တစ်ယောက်ကို တစ် ယောက် စိတ်ပျက်လက်ပျက် လှမ်းကြည့်လိုက်ကြလေ သတည်း။

# အခန်း ၇

ပီတာစဘတ်ရွှေမြို့တော်တွင် ဤအခြင်းအရာများ ဖြစ် လျက်ရှိချိန်၌ ပြင်သစ်တပ်များသည် စမိုးလင့်နယ်ကို သိမ်း ပိုက်ကာ မော်စကိုမြို့အနီးသို့ တဖြည်းဖြည်း ချဉ်းကပ်  လာခဲ့ကြလေပြီ။ နပိုလီယန်၏ ရာဇဝင်ပညာရှိတစ်ဦးဖြစ်သော သိုင်းပြေ့စ်က နပိုလီယန် မော်စကိုမြို့ရိုးအနီးသို့ ရောက်လာခဲ့ခြင်းမှာ ၎င်း၏စိတ်အလိုဆန္ဒကြောင့် ရောက် လာခြင်းမဟုတ်ဘဲ ၎င်း၏ဘုန်းကံပါရမီကြောင့် ရောက်လာ ခဲ့ရခြင်း ဖြစ်သည်ဟုဆိုခဲ့၏။ ဤသို့ဖြင့် သိုင်းယုစ်သည် နပိုလီယန်၏အခြားသော ရာဇဝင်ပညာရှိများ နည်းတူ ၎င်းတို့၏ “လူစွမ်းကောင်းကြီး” နပိုလီယန်အား ဘုန်းတော် အနန္တနှင့် ပြည့်စုံလေဟန် ရေးသားခဲ့လေသည်။ ရာဇဝင် ( အဖြစ်အပျက်တို့ကို လူစွမ်းကောင်းတို့က ဖန်တီးသည် ဟူသောစကားကို မှန်သည်ဟုဆိုလျှင် ဘုန်းကံကြောင့် နပိုလီယန် . မော်စကိုမြို့ရိုးအနီးသို့ ရောက်လာခဲ့သည် ဟူသော သိုင်းလေ့စ်၏အဆိုအမိန့်ကိုလည်း မှန်သည်ဟု ယူဆရတော့မည်သာ ဖြစ်ပါသည်။ တစ်ဖန် မော်စကိုမြို့ရိုး နားသို့ နပိုလီယန် ရောက်ရှိလာခဲ့ခြင်းသည် ရုရှားဗိုလ်ချုပ်၊ ဗိုလ်မှူး၊ စစ်ဦး စစ်ကဲစသော

လူစွမ်းကောင်းကြီးတို့၏ စစ်မြူကျွမ်းကျင်ခြင်းကြောင့် ရောက်လာခြင်း ဖြစ်သည် ဟူသော ရုရှားရာဇဝင်ဆရာတို့၏ အဆိုအမိန့်ကိုလည်း မှန် သည်ဟုယူဆလျှင် သိုင်းလေ့စ်၏ အထက်ပါအဆိုအမိန့်ကို လည်း မှန်သည်ဟု ဆိုရတော့မည်သာ ဖြစ်ပါသည်။ သို့ရာ တွင် ရုရှားရာဇဝင်ဆရာများ၏ အဆိုအမိန့်များသည်လည်း ကောင်း၊ သိုင်းလာ့စ်နှင့် တကွ ပြင်သစ်ရာဇဝင်ပညာရှိ များ၏ အဆိုအမိန့် များသည်လည်းကောင်း တစ်ခုမျှ မမှန် ကြချေ။ ၎င်းတို့၏အဆိုအမိန့်များကိုသာ အမှန်ဟု လက်ခံ ရတော့မည်ဆိုလျှင် ပစ္စုပ္ပန်အကျိုးတရားတို့သည် အတိတ် အကြောင်းတရားများကြောင့် ပေါ်ပေါက်လာရသည် ဟူ သော လောက နိယာမတရားကြီးကို ရေထဲသို့ လွှတ်ပစ် လိုက်ဖို့သာ ရှိတော့သည်။ ထိုအခါ၌ ရာဇဝင်အဖြစ်အပျက် တို့သည် အကြောင်းတရားမရှိဘဲ လူစွမ်းကောင်းများ၏ ဘုန်းတန်ခိုးကြောင့် ပေါ်ပေါက်လာရသည့်အဖြစ်သို့ ရောက် ကာ ရာဇဝင်အူပေါက် ဖြစ်ကုန်တော့မည်သာ ဖြစ်ပေသည်။ ကျွမ်းကျင်သော စစ်တုရင်သမားသည် တစ်ပွဲ ရှုံးပြီးသော အခါ၌ ထိုသို့စစ်ရှုံးရခြင်းသည် မိမိအရွှေ့မှားသော ကြောင့် ရှုံးရခြင်း ဖြစ်သည်ဟု ရိုးသားစွာ သဘောပေါက်၏။ ထို့ ကြောင့် နောက်တစ်ပွဲ ကစား သောအခါတွင် အကွက်မမှား ရလေအောင် သတိကြီးစွာဖြင့် ရွှေ့ ၏။ မိမိရွှေ့ကွက် များ သည် ပြည့်စုံလှပြီ၊ သေချာလှပြီဟု ယူဆလျက် ရှိ၏။

သို့ရာတွင် တစ်ဖက်က မိမိအရုပ်ကို စားသွားသည့်အခါ၌ ကား ဤအကြိမ် တွင်လည်း မိမိရွှေ့ကွက် မှားပြန်ပြီဟု တွေ့ပြန်လေပြီ။ သို့ဖြစ်ရကား အသက်မဲ့ သော စစ်တုရင် ရုပ်များကို လူတစ်ဦးတည်း၏ဆန္ဒဖြင့် တွေ့ရသော စစ်တုရင် ကစားခြင်း၌ပင် ဤမျှလောက် အမှားများတွေ့ကာ ရှုပ်ထွေး လျက်ရှိသည်ဆိုလျှင် အတိုက်အခံဖြစ်လျက်ရှိသော ဆန္ဒ အမျိုးမျိုးကို ပေါင်းစပ်၍ ရေတွက်ခြင်းငှာ မ စွမ်းသော လူများကို ကန့်သတ်ထားသော အချိန်ပိုင်းတစ်ခုအတွင်း လှုပ်ရှားစေရ

သည့် စစ်ထိုးခြင်းအလုပ်ကား မည်မျှခက်ခဲ ရှုပ်ထွေးမည်ကို ပြောဖွယ်မရှိတော့ချေ။

စမိုးလင့်နယ်ကို သိမ်းပြီးသည့်နောက်တွင် နပို လီယန်သည် ဗျာဇမာ၌လည်းကောင်း၊ ဇာရီဗိုဇေမစ်ရှေ့၌ လည်းကောင်း ရုရှားတပ်များနှင့် ရင်ဆိုင်ရန် ကြိုးစား ခဲ့သည်။ သို့ရာတွင် အထူးထူးသောအခြေအနေများ ဆုံ စည်းဖြစ်ပေါ်မှုကြောင့် ရုရှားတို့သည် ထိုတိုက်ပွဲများကို တိုက်ခိုက်နိုင်ခြင်း မရှိခဲ့ကြချေ။ မော်စကိုနှင့် မိုင်ခုနစ် ဆယ်ကွာသော ဘိုရိုဒီနိုဒေသသို့ရောက်မှသာ တော့တော့ ဆိုင်ဆိုင် တိုက်နိုင်ခဲ့ကြလေသည်။ နပိုလီယန်သည် ဗျာ ဇမာသို့ရောက်သည်နှင့် တစ်ပြိုင်နက် မော်စကိုမြို့သို့ အပြင်းချီတက်တိုက်ခိုက်ရန် ၎င်း၏တပ်များကို အမိန့် ပေးခဲ့လေသည်။

“ကြီးကျယ်သော လက်နက်နိုင်ငံတော်ကြီး၏ အာရှ တိုက်ဘက်ကျသော မြို့တော်၊ အလက်ဇန်းဒရားဘုရင်၏ ပြည်သူများအထွတ်အမြတ်ထားသော မြို့တော်၊ တရုတ် စေတီများနှင့်တူသော ဘုရား၊ ဝတ်ကျောင်းများ မရေ တွက်နိုင်အောင် များပြားလှသည့်မြို့တော်” ဟု နပိုလီယန် က ခေါ်ဝေါ်သမုတ်ခဲ့သော ထိုမော်စကိုမြို့ကြီးသည် နပို လီယန်၏စိတ်ကူးကို တစ်ခဏလေးမျှ အနားမပေးခဲ့ချေ။ ဗျာဇမာမှ ဇာရီဗိုဇေဗစ်ရှေ့သို့ ချီတက်လာခဲ့စဉ် နပိုလီယန် သည် သုံးချောင်းထောက်အပြေးကောင်းလှသော မြီးဆံပွပွ စိုင်ညိုမွေး မြင်းမကလေးကို စီးလျက် ကိုယ်ရံတော်များ၊ သက်တော်စောင့်များ၊ အဆောင်ကိုင် ဗိုလ်များ၊ အခြွေအရံ များ ခြံရံလိုက်ပါလာခဲ့သည်။ ၎င်း၏ဦးစီးချုပ် ဗိုလ်ချုပ် ဘာသီးယားမှာ ပြင်သစ်မြင်းကပ်များ ဖမ်းဆီးရမိထား သော သုံ့ပန်းတစ်ယောက်ကို စစ်ဆေးရန် နောက်တွင် ကျန်ရစ်ခဲ့သည်။ အတန်ကြာသော် ဦးစီးချုပ် ဘာသီးယား  သည် စကားပြန်လီလောည်ဒီအီဒီဗီးနှင့် အတူ ရွှင်လန်း အားရသောမျက်နှာထားနှင့် နပိုလီယန်ထံ ဒုန်းစိုင်း ရောက် လာခဲ့လေသည်။

“ဆိုစမ်း မောင်မင်း” နပိုလီယန်က ဆို၏။

“မှန်လှပါ ရုရှားဗိုလ်ချုပ်ပလာတော့၏ ကော့ဆက် မြင်းတပ်သားတစ်ယောက်ကို ကျွန်တော်တို့ သုံ့ပန်းရထား ပါသည်။ ၎င်း၏အဆိုအရ ဗိုလ်ချုပ်ကြီး ပလာတော့ဗ်၏ တပ်များသည် ရုရှားပင်မ စစ်တပ်ကြီးနှင့် ပေါင်းမိရန် အပြင်းချီနေသည်ဟု သိရပါသည်။ ရုရှားဘုရင်သည် ကူတူဇော့ဗ်အား သေနာပတိချုပ်အရာ အပ်နှင်းပြီ ဖြစ် သည်ဟုလည်း ဆိုပါသည်။ ကူတူဇော့ဗ်ကား စကားများ သလောက် စစ်ဆင်စစ်တက် ကျွမ်းကျင်သူ ဖြစ်ပါသည်”

နပိုလီယန်သည် ပြုံး၏။ ဖမ်းမိသောကော့ဆက် သုံ့ပန်းကို မြင်းတစ်ကောင် ပေး၍ မိမိထံသို့ ခေါ်လာခဲ့ ရန် ညွှန်ကြားလိုက်၏။ နပိုလီယန်သည် ကော့ဆက် သုံ့ပန်း ကို ကိုယ်တိုင်စစ်ဆေးမေးမြန်းလိုသည်။ တပ်ရေးများသည် မြင်းကိုယ်စီ ဖြင့် တပ်နောက်ဖျားသို့ ဒုန်းစိုင်းသွားကြရာ တစ်နာရီခန့်အကြာ၌ ကော့ဆက် သုံ့ပန်းနှင့်အတူ တပ်ဦး သို့ ပြန်ရောက်လာကြသည်။ ထိုကော့ဆက်သုံ့ပန်းကား အခြားသူ မဟုတ်။ တစ်ခါက ဒင်နီဆော့ဗ်၏ တပ်လုလင် ဖြစ်၍ နောက်တွင် နီကိုလေ၏ တပ်လုလင်အဖြစ် အမှု ထမ်းလျက်ရှိသော လာဗရူရှကာပေတည်း။ လာဗရူရှကာ သည် ရုရှားတပ်လုလင်ဝတ်စုံကို ဝတ်၍ ပြင်သစ်ကုန်းနှီး တင်ထားသော မြင်းတစ်ကောင်ကို စီးလျက် လိုက်ပါ လာ၏။ အရက်ရှိန်ကြောင့် နီမြန်းလျက်ရှိသော ၎င်း၏ မျက်နှာသည် ခပ်ပြုံးပြုံး ခပ်အအအသွင်ကိုဆောင်လျက် ရှိ၏။ နပိုလီယန်သည် လာဗရူရှကာအား မိမိနှင့် အတူ ဘေးချင်းယှဉ်၍ စီးစေပြီးနောက် သိလိုသောအရာများကို မေးမြန်းခြင်း ပြုလေသည်။

“မောင်မင်း ကော့ဆက်လူမျိုးလော”

”မှန်ပါ့ ကော့ဆက်လူမျိုးဖြစ်ကြောင်းပါ”

“နပိုလီယန်၏ အသွင်အပြင်မှာ လွန်စွာရိုးလှသည့် ( အတွက် အရှေ့တိုင်းသားတစ်ယောက်၏စိတ်၌ ဧကရာဇ် တစ်ပါးဟု အထင်ရောက်နိုင်ဖွယ် မရှိချေ။ ထို့ကြောင့် ကော့ဆက်သုံ့ပန်းငယ်သည် မိမိနှင့် စကားပြောနေသူကို မည်သူမည်ဝါ ဟု ခွဲခြားသိခြင်းမရှိဘဲ စစ်ပွဲအဖြစ်အပျက်  များကို အကျွမ်းတဝင်ပြောဆိုလျက် ရှိလေသည်” ဟု ထိုအဖြစ်အပျက်နှင့် စပ်လျဉ်း၍ ပြင်သစ်ရာဇဝင်ဆရာ သိုင်းလေ့စ်က ရေးသားခဲ့၏။ အဖြစ်အပျက်အမှန်ကား ဤသို့ မဟုတ်ချေ။ လာဗရူရှကာသည် ပြင်သစ်မြင်းတပ် များလက်သို့ သုံ့ပန်းမကျမီ တစ်နေ့က ၎င်း၏တပ်မိုလ်နီကိုလေအတွက် ညစာမချက်မိဘဲ အရက်မူးလျက် ရှိ၏။ ဤတွင် နီကိုလေက ၎င်း၏တပည့်ကို ရိုက်နှက်ကာ ရွာထဲသို့ ကြက်ရှာခိုင်းလိုက်သည်။ လာဗရူရှကာသည် ဤသို့ဖြင့် ရွာထဲတွင် ကြက်များကို လိုက်လံဖမ်းဆီးနေစဉ် ပြင်သစ်တပ်များဝင်လာကာ သုံ့ပန်းအဖြစ် အဖမ်းခံခဲ့ရခြင်း ဖြစ်လေသည်။ အကင်းပါးခြင်း၊ နေရာတကာတွင် လိမ်ဖို့ ကောက်ဖို့အတွက်လောက်ကိုသာ ကြည့်တတ်ခြင်း၊ သခင် ၏အကြိုက်ကို မည်သည့်နည်းနှင့်မဆို ဆောင်ရန် အဆင် သင့် ရှိခြင်း၊ သခင်၏အကြိုက်၊ အထူးသဖြင့် သခင်၏ အမြောက်ကြိုက်တတ်ခြင်းကို ချက်ချင်းသိမြင်တတ်ခြင်း စသည်တို့သည် ကျွန်ပါးဝသောတစ်ပါးကျွန်တို့၏ မဟာအရည်အချင်းကြီးများ ဖြစ်ကြရာ လာဗရူရှကာကား ထို အရည်အချင်းမျိုးအပြည့်ရှိသော လူစားမျိုး ဖြစ်လေသည်။

ဤသို့သောအရည်အချင်းမျိုးနှင့် ပြည့်စုံသည့် လာ ဗရူရှကာသည် နပိုလီယန်အနီးသို့ ရောက်သည်နှင့် နပို လီယန်မှန်း ချက်ချင်းသိလိုက်လေပြီ။ ဤသည်နှင့်တစ် ပြိုင်နက် လာဗရူရှကာသည် အနည်းငယ်မျှ ကြောက်ရွံ့ ဆုတ်ဆိုင်းခြင်းမရှိဘဲ သခင်သစ်နပိုလီယန်၏ မျက်နှာသာ ပေးခြင်းကိုခံရရန် အစွမ်းကုန်ကြိုးစားလျက် ရှိလေသည်။

ထို့ကြောင့် မိမိနှင့် စကားပြောနေသူမှာ နပိုလီယန် ဖြစ်ကြောင်း မသိဟူသော ပြင်သစ်ရာဇဝင်ဆရာ သိုင်းလေ့စ် ၏စကားသည် မမှန်ချေ။ လာဇရူရှကာသည် အနီးသို့ ရောက်လာသည်နှင့် နပိုလီယန်မှန်း ကောင်းစွာသိလိုက်၏။ သို့ရာတွင် ၎င်းအဖို့ နပိုလီယန်၏ ရှေ့မှောက်သို့ ရောက် ရခြင်းသည် ၎င်း၏တပ်ဗိုလ်နီကိုလေ၏ ရှေ့မှောက်သို့ ရောက်ခြင်းထက်လည်းကောင်း၊ ကုတ်ကိုင်လာသော တပ် ကြပ်ကြီးတစ်ယောက်၏ရှေ့မှောက်သို့ ရောက်ရခြင်းထက်လည်းကောင်း ထူး၍ ကြောက်စရာကောင်းလှသည်ဟု မထင်မိချေ။ တကယ်၌ အရပ်သားများ၏ပစ္စည်းကိုလုဖို့ လောက်သာသိသော လာဇရူရှကာအဖို့ နပိုလီယန်သည် လည်းကောင်း၊ တပ်ကြပ်ကြီးသည်လည်းကောင်း မိမိထံမှ ၊ မည်သည့်အရာကိုမျှ လုယူ နိုင်သည်ဟု မထင်မိချေ။

သို့ဖြစ်သည့်အလျောက် လာဇရူရှကာသည် မိမိတို့ တပ်လုလင်အချင်းချင်းဆီမှ ကြားရသည့် အတင်းအဖျင်း စကားများကို နပိုလီယန်အား ကရားရေလွှတ်တတွတ် တွတ်ပြောကာ စကားဖောင်လျက် ရှိ၏။ လာဇရူရှကာ၏ အတင်းစကားများမှာ အမှန်သာဖြစ်၏။ သို့ရာတွင် နပို လီယန်က ရုရှားများသည် ဘိုနာပတ်အားတိုက်၍နိုင်မည် ဟု ထင်သလော၊ ရှုံးမည်ဟု ထင်သလောဟု မေးလိုက်သောအခါ၌မူကား လာဇရူရှကာသည် မျက်လုံးများကို မှေးကာ အတန်ကြာမျှစဉ်းစားလျက် ရှိ၏။

လာဇရူရှကာကဲ့သို့သော လူစားမျိုးသည် “အရာ ခပ်သိမ်းတွင်ကောက်ကျစ်စဉ်းလဲခြင်း ရှိသည်” ဟု မြင် သောလူစားမျိုးဖြစ်သည့်အတွက် ထိုမေးခွန်းထဲတွင်လည်း ပရိယာယ်ဝေဝုစ်ပါသည်ဟု သိမြင်လိုက်သဖြင့် မျက်မှောင်ကုတ်လျက် ချက်ချင်းအဖြေမပေးသေးဘဲ စဉ်းစားနေခြင်း ဖြစ်လေသည်။

"အခြေအနေမှာ ဤသို့ ရှိပါသည်" လာဗရူရုကာ က ခပ်ဆိုင်းဆိုင်းပြော လိုက်၏။ "ယခု လောလောဆယ် တိုက်ပွဲဖြစ်ပွားလျှင်ကား ဗိုလ်ချုပ်ကြီးတို့ဘက် က နိုင်မည် မုချ ဖြစ်ပါသည်။ သို့သော်လည်း နောင်သုံးရက်ကြာမှ တိုက်လျှင်ကား ထိုတိုက်ပွဲသည် ရုတ်တရက် အလွယ်တကူ ပြီးနိုင်ဖွယ် မရှိပါ"

စကားပြန် လီလောည်က ပြုံးကာ နပိုလီယန်ဘက် သို့ ဘာသာပြန်၍ ပြော လိုက်သည်။ စကားပြန် လီလောည် ၏ဘာသာပြန်ချက်မှာ "သုံးရက်အတွင်း တိုက်ပွဲဖြစ်ပွား လျှင် ပြင်သစ်ဘက်က နိုင်မည်၊ သို့ရာတွင် သုံးရက်ကျော် သွား လျှင်ကား မည်သည့်ဘက်က နိုင်မည်၊ ရှုံးမည်ကို ဘုရားသခင်သာ သိပါလိမ့်မည်" ဟူ၍ ဖြစ်၏။ နပိုလီယန် သည် ထိုအချိန်က စိတ်လက်ကြည်သာ ရွှင်ပျလျက်ရှိ သော်လည်း ပြုံးရယ်ခြင်းမရှိချေ။ ဤစကားများကို ထပ် ပြန်တလဲလဲသာ ရွတ်ဆို ခိုင်းနေသည်။

လာဗရူရုကာမှာ မိမိစကားကို နပိုလီယန် သဘော မကျကြောင်း ရိပ်မိလေ ပြီ။ ထို့ကြောင့် နပိုလီယန်ကို မသိဟန်ဆောင်ကာ စကားကို ဖြေရပြန်သည်။

"ဗိုလ်ချုပ်ကြီးတို့ဘက်၌ ဘိုနာပတ် ရှိပါသည်။ ဘိုနာပတ်သည် ကမ္ဘာတွင် မည်သူ့ကိုမျှ ဗိုလ်မထားဘဲ  အနိုင်ယူခဲ့ကြောင်းကို ကျွန်တော်မျိုးတို့ဘက်က သိ ကြ သည်သာ ဖြစ်ပါသည်။ သို့ရာတွင် ယခုစစ်ပွဲကား အခြား စစ်ပွဲများနှင့် တူနိုင် မည် မထင်ပါ"

လာဗရူရုကာသည် မည်သည့်အချက်ကြောင့်ဟူ၍ မသိဘဲ စကားအဆုံး၌ ကိုယ့်လူမျိုးကို အမွှန်းတင်၍ ခပ် ကြွားကြွားကလေး ပြောမိလျက်သား ဖြစ် နေသည်။

စကားပြန်လီလောည်သည် နောက်ဆုံးစကားပုဒ် ကို ချန်လှပ်၍ ဘာသာပြန် ပြလိုက်ပြန်သည်။ နပိုလီယန်က ပြုံးလိုက်သည်။ ဤသည်နှင့် စပ်လျဉ်း၍ ပြင်

သစ်ရာဇဝင် ဆရာသိုင်းလေ့စ်က "ကော့ဆက်သုံ့ပန်းငယ်သည် ၎င်းနှင့် စကားပြောဖက်ဖြစ်သော ကြီးမြတ်သည့်ပုဂ္ဂိုလ်ကြီးကို ပြုံးအောင်လုပ်နိုင်စွမ်း ရှိသူ ပေတကား" ဟု ရေးခဲ့၏။ ဤ သို့ဖြင့် နပိုလီယန်သည် လာဗရူရှကာနှင့် ဘေးချင်း ယှဉ်၍ တိတ်ဆိတ်စွာစီးလာခဲ့ပြီးနောက် ဦးစီးချုပ် ဘာသီးယား ဘက်သို့လှည့် လိုက်လျက် ယခု မိမိနှင့် စကားပြောလျက်ရှိ သူမှာ အခြားသူ မဟုတ်။ အီဂျစ်ပြည် ပိရမစ်အဆောက် အအုံကြီးများပေါ်၌ မိမိ၏နာမည်ကို မော်ကွန်းရေးထိုးခဲ့ သည် အထိ အောင်မြင်ခဲ့သော နပိုလီယန်ဧကရာဇ်ကိုယ် တိုင်ပင်ဖြစ်သည်ဟု သိရလျှင် "ဒွန်မြစ်၏ သားငယ်" မည် သို့ မည်ပုံ ဖြစ်သွားမည်ကို ကြည့်လိုလှသည်ဟု ပြော လိုက် သည်။

ဦးစီးချုပ်ဘာသီးယားက ထိုအကြောင်းကို လာဗရူ ရှကာအား ဖွင့်ပြော လိုက်၏။

ဤသို့ ပြောလိုက်သည်တွင် မိမိအား အံ့သြထိတ် လန့်ခြင်းဖြစ်စေရန် ရည်ရွယ်ကြောင်း လာဗရူရှကာ သိ လိုက်လေပြီ။ ထို့ကြောင့် လာဗရူရှကာသည် သူ့သခင်သစ် စိတ်ကျေနပ်စေရန်အတွက် များစွာအံ့သြထိတ်လန့်ဟန်ဖြင့် မျက်လုံးကြီးများကို ပြူးကာ ကြက်သေသေလျက် ရှိပြီး နောက် ကျောပြင်၌ ကြိမ်ဖြင့် ရုတ်တရက် အရိုက်ခံရ သကဲ့သို့ အလန့်တကြားမျက်နှာထားမျိုးကို ဆောင် လိုက် သည်။ ဤသည်ကို ပြင်သစ်ရာဇဝင်ဆရာ သိုင်းယုစ်က အောက်ပါအတိုင်း ရေးသားထားလေသည်။ "နပိုလီယန် ၏ စကားပြန်က ဤသို့ ပြောလိုက်သည်နှင့် တစ်ပြိုင်နက် ကော့ဆက်သုံ့ပန်းငယ်မှာ လွန်မင်းစွာအံ့အားသင့်လျက် စကားတစ်ခွန်းမျှ မဆိုနိုင်တော့ဘဲ အာရှတိုက်မြက်ခင်း လွင်ပြင်များကိုဖြတ်သန်း၍ ဘုန်းတန်ခိုးတေဇာ ပျံ့နှံ့လွှမ်း  မိုးလျက်ရှိသော အောင်ပွဲရစစ်သူကြီးကို မျက်တောင်မခတ် စိုက်ကြည့်ကာ မြင်းစီး၍လိုက်ပါလာလေသည်။ သို့ပန်း ငယ်၏

အာဝဇ္ဇန်းရှင်ခြင်းဟူသမျှသည် တစ်မုဟုတ်ချင်း ပျောက်ကွယ်သွားကာ ကြည်ညို လေးမြတ်သောစိတ်ထား တို့သည် ရင်တွင်း၌ တဖွားဖွားပေါ်ပေါက်လာကြကုန် သည်။ နပိုလီယန်သည် သုံ့ပန်းငယ်အားလက်ဆောင် ပဏ္ဏာ ချီးမြှင့်ပြီးနောက် ငှက် ငယ်အား ၎င်း၏ဇာတိဖြစ် သော တောစပ်လွင်ပြင်သို့ လွှတ်သကဲ့သို့ သုံ့ပန်းငယ်ကို လည်း ပြန်၍လွှတ်လိုက်လေသတည်း။”

နပိုလီယန်သည် မိမိ၏စိတ်ထဲတွင် စွဲလမ်းလှ သောမော်စကိုမြို့တော် အကြောင်းကို တွေးတောစဉ်းစား ကာ မြင်းကို ဆက်၍စီးလာခဲ့၏။ “ဇာတိဖြစ် သော တော စပ်လွင်ပြင်သို့ ပြန်လွှတ်ခြင်းခံရသော ငှက်ငယ်” လာဗရူ ရှကာသည် လည်း ရှုရှားကင်းတပ်များရှိရာသို့ မြင်းကို ဒုန်းစိုင်း၍ စီးလာခဲ့လေသည်။ ဤသို့စီး လာခဲ့ရင် လမ်း တစ်လျှောက်၌ ထိုအကြောင်းအရာများကို မိမိ၏သွေး သောက် ရဲဘော်များအား မည်သို့ လုပ်ကြံချဲ့ထွင်ပြောရ မည်နည်းဟု စဉ်းစား၍လာခဲ့သည်။ မိမိတွေ့မြင်ခဲ့ရ သလောက်မှာမူကား ဘာမျှ အထူးအဆန်းလုပ်၍ ပြောဖွယ် မရှိ သဖြင့် အရင်းတိုင်း ဖောက်သည်မချလိုချေ။ လာဗရူ ရှကာသည် လမ်းတွင် ကော့ ဆက်မြင်းတပ်သားအချို့နှင့် တွေ့သဖြင့် ပလာတော့၏တပ်မနှင့်အတူ လှုပ်ရှား လျက် ရှိသော မိမိ၏ကော့ဆက်မြင်း တပ်ရင်း စခန်းချလျက် ရှိသည့်နေရာကို မေးမြန်း၍ ခရီးဆက်ခဲ့၏။ ညနေစောင်း လျှင် ယန်ကိုဗိုဒေသ၌ စခန်းချလျက်ရှိ သော ၎င်း၏သခင် နီကိုလေကို တွေ့ရလေသည်။ ထိုအချိန်၌ နီကိုလေမှာ ၎င်း၏အချစ်တော် ဗိုလ်ကလေးအီလျင်နှင့်အတူ အနီး အနားရှိ ရွာများသို့ မြင်း လျှောက်စီးရန် မြင်းပေါ်သို့ ရောက် လျက် ရှိလေပြီ။ နီကိုလေသည် လာဗရူရှကာ အား မြင်းသစ် လဲစေပြီးနောက် မိမိနှင့်အတူ ခေါ်လာခဲ့လေသတည်း။

# အခန်း ၈

မင်းသမီးကလေး မေရီသည် မောင်တော်မင်းသားကလေး အင်ဒရေထင် သကဲ့သို့ ဘေးအန္တရာယ်ကင်းရှင်းရာ မော်စကို မြို့သို့ မရောက်သေးချေ။

စမိုးလင့်မှ အယ်ပါတစ်ပြန်ရောက်လာပြီးနောက်၌ ကား မင်းသားကြီးဘိုလ ကွန်စကီမှာ အိပ်မက်မှ လန့်နိုး လာသကဲ့သို့ ဖြစ်လျက် ရှိလေသည်။ မင်းသားကြီး ဘို လကွန်စကီသည် မိမိ၏ပိုင်စားနယ်မြေထဲရှိ ကျေးရွာများမှ အရေးပေါ် စစ်သည်စုများကို ချက်ချင်းခေါ်ယူစေကာ လက် နက်စွဲကိုင်စေသည်။ ထို့နောက် မိမိသည် နောက်ဆုံးအချိန် အထိ “တောင်ကတုံး”တွင်ပင် နေထိုင်ကာ ထိုဒေသမှ နေ၍ ရန်သူများကို ခုခံတိုက်ခိုက်ရန်ဆုံးဖြတ်ပြီး ဖြစ်ကြောင်း၊ မိမိကဲ့သို့ ရုရှား နိုင်ငံ၏ အသက်အကြီးဆုံးသော ဗိုလ်ချုပ် ကြီးတစ်ဦးသည် ရန်သူ့လက်သို့ သုံ့ပန်း အဖြစ်ကျမည် လော၊ သို့တည်းမဟုတ် တိုက်ပွဲတွင်ကျမည်လောဟူသော အဖြေကို ရွေးချယ်ရတော့မည် ဖြစ်ကြောင်း၊ ဤကိစ္စ၌ “တောင်ကတုံး”ဒေသ၏ ကာကွယ်ရေးအတွက် ကူညီလိုက လည်း ကူညီနိုင်ကြောင်း၊ မကူညီလိုကလည်း နေနိုင် ကြောင်းဖြင့် တပ်မတော် သေနာပတိချုပ်ထံ စာချွန်တစ် စောင်ကိုလည်း ရေးသားပေးပို့ လိုက်၏။ မိမိ၏အိမ်သူ အိမ်သားများကိုလည်း မိမိသည် “တောင်ကတုံး”မှပြောင်း ရွှေ့မည် မဟုတ်ကြောင်းဖြင့် ထုတ်ဖော်ပြောဆိုလိုက် လေ သည်။

မင်းသားကြီးဘိုလကွန်စကီသည် မိမိသာ “တောင် ကတုံး”တွင် ကျန်ရစ်ခဲ့ မည် ဖြစ်သော်လည်း သမီးတော် မေရီ၊ မြေးတော် ဘိုးအေချစ်မင်းသားကလေးနှင့် စာပြ ဆရာ ဒီဆေးလ်တို့ကိုမူ ဘိုဂူချာရိုဗိုသို့ ပြောင်းရွှေ့ရမည်။ ထိုမှတစ်ဆင့် မော် စကိုသို့ ပြောင်းရွှေ့ရမည်ဟု ညွှန်ကြား ခြင်း ပြုလေသည်။ မင်းသမီးကလေးမေရီ

သည် ခမည်း တော်မင်းသားကြီးဘိုလကွန်စကီ၏ ကယောင်ချောက်ချား
အမူအရာများကိုမြင်၍ ထိတ်လန့်လျက်ရှိသဖြင့် တစ် ယောက်တည်းထားခဲ့ရန်
စိတ်မချနိုင်လောက်အောင်ဖြစ်ပြီး ခမည်းတော်ကြီး ပြောင်းရွှေ့ခြင်းမပြုက မိမိ
လည်း ပြောင်း ရွှေ့ခြင်းမပြုဟုဆိုကာ တစ်သက်တွင် ပထမဆုံးအကြိမ် ခမည်း
တော်မင်းသားကြီး၏ အမိန့်ကို တော်လှန်ခြင်းပြု လေသည်။ မင်းသမီးကလေး မေ
ရီက "တောင်ကတုံး"မှ ထွက်ခွာခြင်းမပြုဟု ငြင်းဆန်သည်ကြောင့် လေမုန်တိုင်း
ကြီး ပြင်းထန်စွာကျရောက်သကဲ့သို့ ခမည်းတော်မင်းသား ကြီးမှာ ဒေါသအမျက်
ခြောင်းခြောင်း ထွက်လာခဲ့လေပြီ။ ခမည်းတော်မင်းသားကြီးသည် ယခင်ကကဲ့သို့
နှိပ်စက်  ကလူပြုခြင်း၊ နှိပ်နှိပ်နယ်နယ်ပြောဆိုခြင်းများကို ပြုလုပ် လေ
တော့သည်။ သမီးတော်သည် မိမိကို တရိရိ စိတ်ဆင်း ရဲစေခဲ့ကြောင်း၊ သားနှင့်
အဖေကိုလည်း ကတုံးကတိုက် လုပ်ခဲ့ကြောင်း၊ မိမိ၏အေးချမ်းသောဘဝကို
အမြဲတမ်း နှောင့်ယှက်ဖျက်ဆီးကာ မကောင်းကြံလျက် ရှိကြောင်း စသဖြင့် သမီး
တော်အား ပြစ်ဒဏ်ပေးသည့်အနေဖြင့် စွဲချက် အမျိုးမျိုးတင်ကာ သမီးတော်
ပြောင်းသည် ဖြစ်စေ၊ မပြောင်း သည်ဖြစ်စေ၊ မိမိဆုံးဖြတ်ချက်ကို မဖျက်နိုင်ဟု
ပြောဆို ပြီး စာကြည့်ဆောင်ထဲမှ မောင်းထုတ်လိုက်လေသည်။ ထို့ပြင်လည်း မိမိ
သည် သမီးတော်အား လူ့လောကကြီးတွင် ရှိနေသေးသည်ဟူ၍ အောက်မေ့တော့
မည် မဟုတ်ကြောင်း ဖြင့် ပြောဆိုလျက် နောင်တွင် မိမိမျက်စိရှေ့သို့ မည်သည့်
အခါမျှ ဖြတ်သန်းသွားလာခြင်း မပြုရဟု အမိန့်ထုတ် လိုက်၏။ မင်းသမီးကလေး
မေရီမှာ မိမိအား ခမည်းတော် ကြီးက အတင်းအကျပ်ရွှေ့ပြောင်းခိုင်းလိမ့်မည်ဟု
တွေး ကာ စိုးရိမ်လျက်ရှိခဲ့ရာ ယခု မိမိမျက်စိရှေ့မှောက်သို့ လာ ရောက်ခြင်း မပြုရ
ဟူ၍သာ အမိန့်ထုတ်သဖြင့် ဝမ်းသာ လျက် ရှိလေသည်။ ခမည်းတော်ကြီးက
ဤသို့ဆူပူကြိမ်း မောင်းခြင်းသည်ပင် မိမိက အရေးကိစ္စကြုံလျှင် ကိုယ်လွတ် ရုန်း
သွားခြင်း မရှိ၊ သေအတူ ရှင်အတူသဘောကို ပြခြင်း ကြောင့် ခမည်းတော်ကြီး

စိတ်ထဲတွင် ကျိတ်၍ ကျေနပ် လျက်နေသည့် လက္ခဏာတစ်မျိုးဟု မင်းသမီး ကလေး မေရီက ယူဆလျက် ရှိပေသည်။

ဘိုးအေချစ် မင်းသားကလေးအား ဂူချာရိုဗိုသို့ ပို့လိုက်သည့်နေ့နံနက်၌ မင်းသားကြီးဘိုလကွန်စကီသည် ၎င်း၏စစ်ဝတ်စုံကို အပြည့်အစုံဝတ်ဆင်ကာ တပ်မတော် သေနာပတိချုပ်ထံ သွားရောက်တွေ့ဆုံရန် ပြင်ဆင်လျက် ရှိ၏။ မင်းသားကြီး၏ ကရထားမှာ တံခါးဝ၌ အဆင် သင့်ရောက်လျက် ရှိလေပြီ။ မင်းသားကြီးသည် စစ်ဝတ်စုံ ကိုဝတ်လျက် ဆုတံဆိပ်နှင့် တကွ ရင်သိုင်းဘယက် အဆောင်အယောင်များကို ချိတ်ဆွဲကာ စံအိမ်အပြင်ဘက် သို့ ထွက်သွားပြီး လက်နက်စွဲကိုင်ထားသောလယ်သမား များနှင့် မြေကျွန်များကိုစစ်ဆေးရန် ပန်းခုံ ထဲသို့ ဆင်းသွား သည်ကို မင်းသမီးကလေး မေရီ မြင်လိုက်ရ၏။ မင်းသမီး ကလေး မေရီသည် ဥယျာဉ်ထဲ၌ အရေးပေါ်စစ်သည်စုများ နှင့် ပြောဆိုလျက်ရှိ သည့် ခမည်းတော်မင်းသားကြီး၏  စကားများကို ပြတင်းဝမှထိုင်၍ နားထောင်နေ မိသည်။ ထိုအခိုက် လူအုပ်တစ်အုပ်သည် ကြောက်ရွံ့ထိတ်လန့် သောမျက်နှာများ ဖြင့် စံအိမ်အဝင်လမ်းမဘက်ဆီမှ ပြေး ဝင်လာခြင်းကို မြင်လိုက်ရပြန်သည်။

မင်းသမီးကလေး မေရီသည် စမုတ်ဆောင်အဝမှ ဆင်းလာခဲ့ပြီးလျှင် ပန်းရုံ ကြီးများ တစ်ဖက်တစ်ချက် ရံ ထားသောလမ်းကလေးအတိုင်း စံအိမ်အဝင် လမ်းမ ဆီသို့ ပြေးလာခဲ့သည်။ အရေးပေါ် စစ်သည်စုဝင်များနှင့် မြေကျွန် အုပ်ကြီးတစ် အုပ်သည် မင်းသမီးကလေးမေရီထံသို့ ရှေ့ရှု လာလျက်ရှိ၏။ ၎င်းတို့၏အလယ် တွင် လူတစ်သိုက်သည် စစ်ဝတ်စုံနှင့် ဆုတံဆိပ်အဆောင်အယောင်များ ဆင်ယင် ထားသည့် အဘိုးကြီးတစ်ယောက်ကို ပွေ့ချီလာကြ၏။ မင်းသမီးကလေးမေရီ သည် ထိုအဘိုးကြီးထံသို့ ပြေးလာခဲ့ သည်။ စံအိမ်အဝင်လမ်းတွင် သံပရာပင်များ တစ်ဖက် တစ်ချက် စီတန်းပေါက်လျက်ရှိသည်ဖြစ်ရာသံပရာရွက် များကြားမှ နေရောင်များသည် ထိုအဘိုးကြီး၏ မျက်နှာ ပေါ်သို့ ထိုးကျလျက် ရှိ၏။ ထိုအဘိုး

ကြီး၏ မျက်နှာမှာ အပြောင်းလွဲကြီး ပြောင်းလဲလျက် ရှိလေပြီ။ ထိုအဘိုးကြီး၏ မျက်နှာပေါ်တွင် ယခင်က "မည်သူ့ကိုမျှ ထီမထင်၊ ငါ ထင်ရာ ငါလုပ်သည်" ဟူသော ခက်ထန်ကြမ်းကြုတ်သည့် အသွင်သဏ္ဍာန်မျိုး ရှိခဲ့သော်လည်း ယခု အချိန်၌ ထိုအမူ အရာများသည် ပျောက်ကွယ်သွားကြကာ အလွန်အမင်း ကြောက်ရွံ့ထိတ်လန့်၍ အားငယ်လျက်ရှိသော အမူအရာ မျိုးသာ ထင်ရှားစွာပေါ် ပေါက်လျက်ရှိလေပြီ။ ထိုအဘိုး ကြီးသည် သမီးတော်ကလေး မေရီကိုမြင်သည် တွင် နှုတ်ခမ်း ကို အနိုင်နိုင်လှုပ်ရှားကာ ဗလုံးဗထွေးဖြင့် ပြောဆိုခြင်း ပြုလေ သည်။ မည်သည့်အရာကိုမျှ ပီသစွာ ရွတ်ဆိုနိုင် ခြင်း မရှိတော့ပြီ။ ထို့နောက်တွင် မင်းသားကြီးဘိုလကွန် စကီကို ပွေ့ချီကာ စာကြည့်ဆောင်သို့ တင်လာခဲ့ကြပြီး နောက် ယခုတလော၌ ၎င်းအကြောက်ကြီး ကြောက်တတ် သော ထိုင်ဖုံကြီးပေါ် သို့ တင်ထားလိုက်ကြလေသည်။

ထိုနေ့ ညတွင်းချင်းပင် ပင့်ဖိတ်သဖြင့် ရောက်ရှိ လာသောသမားတော်ကြီး သည် မင်းသားကြီးဘိုလကွန်စကီ ၏သွေးကို ဖောက်ထုတ်ပြီးနောက် မင်းသားကြီး မှာ လက် ယာဘက်ကိုယ်တစ်ခြမ်း သေသွားပြီဖြစ်ကြောင်း ပြောဆို လေသည်။

"တောင်ကတုံး"၌ ဆက်လက်နေထိုင်ရခြင်းမှာ လည်း တစ်နေ့တစ်ခြား အန္တရာယ်များလာခဲ့လေပြီ။ ထို့ ကြောင့် မင်းသမီးကလေးမေရီသည် နောက် တစ်နေ့၌ ခမည်းတော်ကြီးနှင့်အတူ ဘိုဂူချာရိုဗိုသို့ ပြောင်းရွှေ့ခဲ့ ၏။ သမားတော် လည်း လိုက်ပါလာလေသည်။

မင်းသားကြီးနှင့် မင်းသမီးကလေး မေရီတို့သည် ဘိုဂူချာရိုဗိုသို့ရောက် သောအခါတွင် စောစောက ပြောင်း ရွှေ့ပြီးဖြစ်သော "ဘိုးအချစ်" မင်းသားကလေး နှင့် ၎င်း၏ စာပြဆရာဒီဆေးလ်တို့မှာ မော်စကိုသို့ ထွက်ခွာသွားနှင့် ကြလေပြီ။

မင်းသားကလေးအင်ဒရေသည် ဘိုဂူချာရိုဗိုတွင် ရွာသစ်တည်ထောင်၍ သူ နေရန် အိမ်တစ်ဆောင်ကိုလည်း မကြာမီက ဆောက်လုပ်ခဲ့သည်ဖြစ်ရာ မင်းသားကြီး ဘို လကွန်စကီမှာ ရက်သတ္တသုံးပတ်လုံးလုံး ထိုအိမ်ထဲတွင် ကိုယ် တစ်ခြမ်းသေလျက် သွက်ချာပါဒရောဂါကို ခံစား နေရလေသည်။ ထို အတောအတွင်း မင်းသားကြီး၏ရောဂါ မှာ သက်သာသည်ဟူ၍လည်း မရှိ၊ တိုးသည်ဟူ၍လည်း မရှိဘဲ တန်းလျက်ရှိ၏။ မင်းသားကြီးဘိုလကွန်စကီသည် လုံး ဝ သတိလစ်လျက်ရှိကာ ရုပ်ပျက်ဆင်းပျက်ဖြစ်လျက် ရှိသော အလောင်းကောင် ကြီးသဖွယ် အိပ်ရာထဲတွင် လဲ လျက်ရှိလေသည်။ ပါးစပ်ကလည်း အဆက်မပြတ် ညည်း ညူလျက် ရှိသည်။ မျက်ခုံးများနှင့် နှုတ်ခမ်းများကလည်း ရှုံ့ နေကြသည်။ မင်းသားကြီးဘိုလကွန်စကီသည် မိမိ ပတ်ဝန်းကျင်ကိုလည်း လုံးဝသတိရဟန် မ တူတော့ချေ။ သို့ရာတွင် မင်းသားကြီး၏ဟန်အမူအရာကို ထောက်၍ ၎င်းသည် ဝေဒနာကို ပြင်းစွာခံစားလျက်ရှိရင်းကပင် တစ်စုံ တစ်ရာကို ပြောချင်ဟန်တူသည် ဟု ယူဆရလေသည်။ သို့ရာတွင် ပါးစပ်မှထွက်လာသမျှတို့မှာ ပီသခြင်းမရှိသည့် အတွက် မည်သူမျှ နားမလည်နိုင်ပြီ။ ရောဂါဝေဒနာ ပြင်းစွာခံစားနေရသည့် ၎န်းဖမ်းနေသူတစ်ဦး၏ ကယောင် ကတမ်းပြောခြင်းမျိုးလော၊ တိုင်းရေးပြည်ရေး ကိစ္စလော၊ အိမ်တွင်းရေးကိစ္စလော မည်သူမျှ မသိနိုင်ပြီ။

သမားတော်ကြီးကမူ ဤသို့ပြောဆိုခြင်းမျိုးမှာ ရောဂါဝေဒနာကြောင့်ဖြစ်၍ အခြားအထူးအထွေမဟုတ် ကြောင်းဖြင့် ပြောပြ၏။ သို့ရာတွင် မင်းသမီးကလေး မေရီ၏စိတ်၌မူ ခမည်းတော်ကြီးသည် မိမိအား တစ်စုံ  တစ်ရာကိုပြောပြချင်သည် ဟု စိတ်ထဲတွင် ထင်မှတ်လျက် ရှိသည်။ မင်းသမီးကလေး မေရီ အနီးသို့ ရောက်လာတိုင်း မင်းသားကြီးမှာ ပိုမို၍ ဗလုံးဗထွေးပြောတတ်သဖြင့် မိမိ ယူဆ သည့်အတိုင်းဖြစ်လိမ့်မည်ဟု မင်းသမီးကလေး မေရီ ထင်မိသည်။

မင်းသားကြီးဘိုလကွန်စကီသည် ကိုယ်စိတ်နှစ်ပါး စလုံး ရောဂါဝေဒနာကို ခံစားနေရလေသည်။ မင်းသား ကြီး ပြန်၍ကျန်းမာလာရန်ကား မျှော်လင့်ဖွယ် မရှိ တော့ ချေ။ ရှေ့သို့ ဆက်လက်ခရီးသွားရန်လည်း မဖြစ်နိုင်တော့ ချေ။ မင်းသမီး ကလေးမေရီအဖို့လည်း လမ်းခရီးတွင် ခမည်းတော်ကြီး ပိုးစိုးပက်စက်ဖြစ်သွား မည့်အဖြစ်ကို လက်မခံနိုင်ချေ။ "ဒီလောက် ရောဂါဝေဒနာခံစားနေရမယ့် အတူ မြန်မြန်သေသွားတာက ကောင်းပါလိမ့်ဦးမယ်" ဟုပင် တစ်ခါတစ်ရံ မင်းသမီး ကလေး မေရီ တွေးမိ၏။ မင်းသမီးကလေး မေရီသည် နေ့ရောညပါ ကောင်းစွာ အိပ်စက်ခြင်းမပြုဘဲ ခမည်းတော်ကြီးကိုသာ စောင့်ကြပ် ကြည့်ရှုလျက်ရှိ၏။ သို့ရာတွင် စောင့်၍သာ စောင့်ရသော် လည်း မင်းသမီးကလေး မေရီစိတ်ထဲ၌ကား ရောဂါသက် သာရန် မမျှော်လင့်တော့ဘဲ မြန်မြန်ကံတော်ကုန်ပါစေဟု သာ ဆန္ဒ ပြုလျက် ရှိလေသည်။

မင်းသမီးကလေး မေရီသည် မိမိ၏စိတ်ထဲ၌ ဤ သို့သော စေတနာမျိုးဖြစ် ပေါ်လျက်ရှိခြင်းကို တွေ့ရသည့် အတွက် ထူးဆန်းအံ့သြလျက် ရှိလေသည်။ အံ့သြ သည့် တိုင် ထိုစေတနာသည် ပျောက်ကွယ်သွားခြင်းမရှိဘဲ ဆက် လက်ကိန်းဝပ် နေခြင်းကို တွေ့ရ၏။ ပို၍ အံ့သြထိတ်လန့် ဖွယ်ကောင်းသည့်အချက်ကား ခမည်း တော်ကြီး မကျန်းမာ သည့်အချိန်ကစ၍ (တစ်နည်းအားဖြင့် ခမည်းတော်ကြီး ကံ တော်ကုန်ပါစေဟု ဆန္ဒပြုရင်း အိပ်ရာဘေးတွင် စောင့် ကြပ်ကြည့်ရှုလျက်ရှိသည့် အချိန်မှစ၍) မင်းသမီးကလေး ၏ စိတ်ထဲ၌ ကာလအတန်ကြာမျှ ပျောက်ကွယ် တိမ်မြုပ် နေသော ကိုယ်ရေးကိုယ်တာဆန္ဒများ၊ မျှော်လင့်ချက်များ သည် ခေါင်း ပြူ၍ ပေါ်လာကြခြင်း ဖြစ်လေသည်။ မိမိ၏ ခမည်းတော်ကြီးကို ကြောက်ရွံ့ခြင်း ကင်းစွာဖြင့် လွတ်လွတ် လပ်လပ်နေထိုင်လိုသောဆန္ဒ၊ ချစ်ခင်သူ အိမ်ထောင်ဖက် နှင့်အတူ သာယာသောအိမ်ထောင်သည်အဖြစ် နေထိုင်လို သောဆန္ဒ စသည့် ကာလအတန်ကြာကတည်းက ပျောက် ကွယ်နေသောဆန္ဒများသည် မ

ကောင်းသောနတ်များက နှိုးဆော်တိုက်တွန်းနေသကဲ့သို့ မင်းသမီးကလေး မေရီ၏ စိတ်ထဲတွင် ပေါ်လာကြကုန်သည်။ မင်းသမီးကလေးမေရီ သည် ဤအတွေးများ ကို ကြိုးစားဖျောက်ဖျက်ပစ်သော် လည်း ဤကိစ္စကြီးပြီးလျှင် မည်သို့ မည်ပုံ နေထိုင်ရမည် ဆိုသည့်စိတ်ကူးသာလျှင် ခေါင်းထဲသို့ မကြာခဏ ရောက် ၍ လာ တတ်၏။ ဤအခြင်အရာများကား မကောင်းသော နတ်တို့၏ သွေးဆောင် ဖြားယောင်းမှုများ ဖြစ်၏။ ထို အချက်ကိုလည်း မင်းသမီးကလေး မေရီ သိ၏။ ဤ မိစ္ဆာ နတ်ဆိုး၏ ဖြားယောင်းသွေးဆောင်မှုကို တွန်းလှန်ရန် တစ်ခုတည်းသော လက်နက်ကား ဆုတောင်းခြင်း ဖြစ်၏။ ထို့ကြောင့် မင်းသမီးကလေး မေရီသည် ဆုတောင်းရန် ကြိုးစား၏။ မင်းသမီးကလေး မေရီသည် မေတ္တာတရားကို နှလုံးသွင်းကာ ဆင်းတုတော်ရှေ့တွင်ရပ်လျက် ဆုတောင်း မေတ္တာပို့သ၏။ သို့ရာတွင် ဆုတောင်း၍ မရတော့ပြီ။ မင်းသမီးကလေး မေရီ၏စိတ်တွင် မိမိသည် ကမ္ဘာသစ် ကြီးတစ်ခု၊ လွတ်လပ်စွာလှုပ်ရှားသွားလာနိုင်သော ဘဝ သစ်ကြီးတစ်ခု ယခုတိုင် မိမိနေထိုင်လျက်ရှိ၍ ဆုတောင်း ခြင်းဖြင့်သာ စိတ်၏သက်သာမှုကိုရနိုင် သော နာမ်ကမ္ဘာ ကြီးမှ ကွဲပြားခြားနားသော လောကကြီးတစ်ခုအထဲသို့ ဝင် ရောက်နေသည်ဟု ထင်မှတ်မိ၏။ မင်းသမီးကလေး မေရီသည် ဆုတောင်း၍လည်း မရ၊ ငို၍လည်း မရဖြစ် လျက်ရှိကာ လောကီပြဿနာ များသည် ၎င်းကို ရစ်ပတ် လွှမ်းခြုံလျက် ရှိကြလေသည်။

ဘိုဂူချာရိုဗိုတွင် ဆက်လက်၍ နေထိုင်ရခြင်းမှာ တစ်နေ့ထက်တစ်နေ့ အန္တရာယ်များလာခဲ့လေပြီ။ ပြင်သစ် တပ်များသည် ဘိုဂူချာရိုဗိုအနီးသို့ ရောက်ရှိ လာကြပြီဟူ သောသတင်းများကိုလည်း ကြားနေရလေပြီ။ ဘိုဂူချာရိုဗိုမှ ဆယ်မိုင် ခန့်ဝေးသောရွာတစ်ရွာတွင် ပြင်သစ်တပ်များက ပစ္စည်းများကို ဝင်ရောက်လုယူ သွားသည်ဟုလည်း သတင်း ဖြစ်လျက်ရှိလေသည်။

သမားတော်ကြီးသည် မင်းသားကြီး ဘိုလကွန် စကီကို မော်စကိုသို့ ပြောင်းရွှေ့ ကုသသင့်ကြောင်းဖြင့် မင်းသမီးကလေး မေရီအား တိုက်တွန်းလျက်ရှိ၏။ ထိုဒေသ ရှိ သူကောင်းမျိုးနွယ်တို့၏ နာယကပုဂ္ဂိုလ်ကလည်း မင်း သမီးကလေး မေရီထံသို့ အရာရှိတစ်ဦးကို စေလွှတ်ကာ ထိုနေရာမှ အမြန်ဆုံးထွက်ခွာသွားရန် အပြောခိုင်းလိုက် ၏။ ဒေသန္တရ ရဲဝန်ကလည်း ဘိုဂူချာရိုဗိုသို့ ရောက်လာကာ အလားတူ အကြံပေးတိုက်တွန်းခြင်း ပြုပြန်သည်။ ထိုမျှမက ပြင်သစ်တပ်များသည် နှစ်ဆယ့်ငါးမိုင်အကွာ သို့ ရောက်ရှိနေကြပြီ ဖြစ်ကြောင်း၊ ပြင်သစ်ကြေညာချက် များမှာ ရွာအနှံ့ရောက်လျက်ရှိပြီ ဖြစ်ကြောင်း၊ ဩဂုတ်လ ၁၅-ရက်နေ့မတိုင်မီ မင်းသားကြီးဘိုလကွန်စကီကို ပြောင်း ရွှေ့ခြင်းမပြုပါက မိမိတို့၏တာဝန် မဟုတ်တော့ကြောင်း ဖြင့် မင်းသမီးကလေးမေရီအား ပြောဆိုခြင်းပြုလေသည်။

မင်းသမီးကလေး မေရီသည် ဘိုဂူချာရိုဗိုမှ ဩဂုတ် လ ၁၅-ရက်နေ့တွင် ထွက်ခွာရန် ဆုံးဖြတ်လိုက်၏။ ထွက်ခွာရာတွင် လိုအပ်သည့်အစီအစဉ်များကို ပြုလုပ်ရမည် ဖြစ်သဖြင့် အစေခံများအား စီမံခန့်ခွဲနေရသည့်အတွက် မင်းသမီးကလေးမေရီသည် တစ်နေ့လုံး အလုပ်များလျက် ရှိလေသည်။ ဩဂုတ်လ ၁၄-ရက်နေ့ညတွင် မင်းသမီးလေး မေရီသည် ထုံးစံအတိုင်း အဝတ်အစားလဲခြင်း မပြုတော့ဘဲ ခမည်းတော်မင်းသားကြီး၏ ခန်းဆောင်နှင့်ကပ်လျက် အခန်းထဲတွင် အိပ်၏။ သို့ရာတွင် ကောင်းစွာအိပ်မပျော် နိုင်ဘဲ မကြာခဏနိုးလျက်ရှိရာ နိုးတိုင်းလည်း ခမည်း တော်ကြီး၏ညည်းတွားသံ၊ အိပ်ရာမှ တကျွိကျွိမြည်သံ၊ ကျွန်ယုံတော်ကြီးတီကွန်နှင့် သမားတော်ကြီး၏ခြေသံများ ကို ကြားနေရ၏။ မကြာခဏ ထ၍လည်း တံခါးအနီးသို့ ကပ်ကာ နားစွင့်ထောင်မိသည်။ ၎င်း၏စိတ်ထဲ၌ ခမည်းတော်ကြီး၏ ညည်းတွားသံသည် ယနေ့ည ခါတိုင်းညထက် ပို၍ ကျယ်လောင်သည်ဟု ထင်မှတ်မိသည်။ သမားတော် ကြီးနှင့် တီကွန်တို့သည်လည်း ခါတိုင်း

ထက် အလုပ်များ သည်ဟု အောက်မေ့မိ၏။ မင်းသမီးကလေးမေရီသည် အိပ် မ ပျော်တော့ချေ။ အခန်းဝသို့သွားကာ နားထောင်ပြီး အထဲ သို့ ဝင်ရောက်ကြည့်လို သော်လည်း ချီတုံချတုံဖြစ်လျက် ရှိသည်။ ခမည်းတော်မင်းသားကြီးသည် မိမိ အတွက် အခြား သူများက စိုးရိမ်ကြောင့်ကြလျက် ရှိခြင်းကို မြင်ရတိုင်း စိတ်မချမ်း မသာဖြစ်တတ်ကြောင်းကို သူကိုယ်တိုင် ပါးစပ် ကထုတ်မပြောသော်လည်း မင်းသမီးကလေးမေရီ ကောင်း စွာသိ၏။ တစ်ခါတစ်ရံ မင်းသမီးကလေးမေရီက စိုးရိမ် တကြီး ကြည့်မိသည့်အခါများတွင် ခမည်းတော်မင်းသား ကြီးသည် ထို အကြည့်မျိုးကို မနှစ်သက်သောအမူအရာ ဖြင့် မျက်နှာလွှဲ၍ သွားတတ်ခြင်းကို မင်းသမီးကလေး မေရီ မကြာခဏ သတိပြုမိခဲ့၏။ ယခုကဲ့သို့ အချိန်မတော် ဝင် သွားခြင်းသည် ခမည်းတော် မင်းသားကြီး၏စိတ်ကို အနှောင့်အယှက်ပြုရာ ရောက်လိမ့်မည်ဖြစ်ကြောင်း မင်း သမီးကလေးမေရီသိ၏။

မင်းသမီးကလေး မေရီ၏တစ်သက်တွင် ခမည်း တော်ကြီးအတွက် ဤ တစ်ခါလောက် မည်သည့်အခါကမျှ ပူပန်သောက မဖြစ်ဖူးချေ။ ဤတစ်ခါလောက် ခမည်း တော်ကြီးနှင့် ခွဲခွာရမည်ကို စိုးရိမ်ကြောက်လန့်ခြင်း မဖြစ် ဖူးချေ။ မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီးနှင့် နေလာခဲ့ရသည့်အချိန်များကို ပြန်တွေးမိသည်။ တွေးလိုက် တိုင်း ခမည်းတော်ကြီး၏စကားများ၊ အပြုအမူများ ထဲတွင် မိမိအား ချစ်ခင်မြတ်နိုးခြင်း၏ လက္ခဏာများကို တွေ့လာရ ၏။ တစ်ခါတစ်ရံ၌မူကား ဤသို့တွေးတောလျက်ရှိသည့် ကြားထဲမှပင် နတ်ဆိုး၏ ဖြားယောင်းသွေးဆောင်မှုများ သည် ကြိုးကြားကြိုးကြား ပေါ်လာတတ်ကြသေး သည်။ ခမည်းတော်ကြီး ကံတော်ကုန်လျှင် မည်သို့ မည်ပုံ နေထိုင် ရမည်၊ လွတ်လပ်သောဘဝသစ်ကို မည်သို့မည်ပုံ အသုံးချ မည်ဆိုသည့် စိတ်ကူးတို့သည် ခေါင်းပြုလာတတ်ကြ သသည်။ သို့သော်လည်း မင်းသမီးကလေး မေရီသည် ထို အတွေးများကို လက်မခံ။ စက်ဆုပ်ရွံ့ရှာစွာဖြင့် မောင်းနှင ထုတ်ပစ်သည်သာ ဖြစ်

လေသည်။ မင်းသားကြီးဘိုလကွန် စကီသည် နံနက်လင်းခါနီးမှ ငြိမ်သက်သွားရာ ထိုအခါ ကျမှ မင်းသမီးကလေး မေရီသည်လည်း အိပ်ပျော်ခြင်းသို့ ရောက်လေသတည်း။

နောက်တစ်နေ့ နံနက်တွင် မင်းသမီးကလေးမေရီ သည် နေမြင့်မှ အိပ်ရာက နိုးလာ၏။ အိပ်ရာက နိုးလာ လျှင် လာချင်း ခမည်းတော်ကြီးအတွက် စိုးရိမ်ကြောင့်ကြ ခြင်း ဖြစ်ပေါ်လာပြန်၏။ မင်းသမီးကလေး မေရီသည် တစ်ဖက်ခန်းဆောင်ဆီသို့ နားစွင့်၍ ထောင်လိုက်သည်။ ခမည်းတော်ကြီး၏ ညည်းတွားသံကို ကြားရသည်တွင် အခြေအနေမထူးသေးသည့်အတွက် ညည်းညူကာ သက် ပြင်းကြီး ချလိုက်မိသည်။

“အင်း ငါဟာ တော်တော် စိတ်သဘောယုတ်တဲ့ မိန်းမတစ်ယောက်ပဲ၊ ငါဟာ ခမည်းတော်ကြီးကို မြန်မြန် ကံတော်ကုန်စေချင်နေတယ်၊ ငါ အိမ်ထောင်ဖက်နဲ့ လွတ်  လွတ်လပ်လပ်နေရမယ့် အရေးလောက်ကိုသာ တွေးနေ တယ်၊ ဟင် မိန်းမယုတ်၊ အဖေကိုသေစေချင်နေတဲ့ မိန်းမ ယုတ်၊ ပီတုကာရကကံထိုက်သင့်တဲ့ မိန်းမယုတ်” မင်းသမီး ကလေး မေရီသည် မိမိကိုယ်ကို စက်ဆုပ်ရွံရှာစွာဖြင့် ကျိန်ဆဲမိသည်။

မင်းမီးကလေး မေရီသည် ကိုယ်လက်သန့်စင်ခြင်း၊ အဝတ်အစားလဲခြင်း၊ ဘုရားဝတ်ပြုခြင်း စသည့်ကိစ္စတို့ ပြီးလျှင် စမုတ်ဆောင်သို့ ထွက်လာခဲ့၏။ စမုတ်ဆောင်ရှေ့ ၌ ရထားများကို မြင်းဖြုတ်၍ ရပ်ထား၏။ ရထားများ ပေါ်၌ အထုပ်အပိုးများတင်ပြီးဖြစ်နေပေပြီ။

ထိုနေ့ နံနက်မှာ အနွေးဓာတ် ရစ်ပတ်လျက်ရှိ၍ ကောင်းကင်သည် အံ့ပျ လျက်ရှိ၏။ မင်းသမီးကလေး မေရီ သည် စမုတ်ဆောင်ဝတွင် ရပ်လိုက်သည်။ ၎င်း၏စိတ်၌ ခမည်းတော်ကြီးအပေါ် မကောင်းသောစေတနာကို ထားခဲ့ မိခြင်း

အတွက် ထိတ်လန့်ကြောက်ရွံ့လျက်ရှိကာ ခမည်း တော်ကြီး ခန်းဆောင်ထဲသို့ ဝင်ရောက်ခြင်း မပြုမီ ထို စေတနာဆိုးများကို ပပျောက်အောင် စိတ်ကို သန့်ရှင်းစင်ကြယ်စေ၏။

သမားတော်ကြီးသည် အပေါ်ထပ်မှ ဆင်းလာကာ မင်းသမီးကလေး မေရီ ထံသို့ လျှောက်လာလေသည်။

"ဒီနေ့ ကိုယ်တော်ကြီး တော်တော်သက်သာလာ တယ် ထိပ်ထားလေး၊ ကျုပ် ထိပ်ထားလေးကို လိုက်ရှာ နေတာ၊ စကားလဲ ပီပီသသပြောနိုင်ပြီ၊ ခေါင်းထဲမှာလဲ တော်တော်ရှင်းသွားဟန် တူတယ်၊ ထိပ်ထားလေးကိုချည်း တစ်မေးတည်း မေးနေတယ်၊ လာ လာ"

ဤသတင်းကို ကြားလိုက်ရသည်တွင် မင်းသမီး ကလေး မေရီ၏နှလုံးသည် ပြင်းစွာခုန်စပြုလာလျက် မျက်နှာဖြူရော်သွားကာ ကိုယ်ကိုလဲကျမသွားအောင် နံရံ ကို မှီထားလိုက်ရ၏။ မင်းသမီးကလေး မေရီသည် ခမည်း တော်ကြီးအပေါ်၌ မကောင်းသောစေတနာများ ထားခဲ့မိ ပြီးနောက် ယခုကဲ့သို့ သွားရောက်တွေ့ဆုံ၍ စကားပြောရ မည်ကို မလုံမလဲဖြစ်ကာ ထိတ်လန့်လျက် ရှိလေသည်။

"လာလေ" သမားတော်က ခေါ်၏။ , မင်းသမီးကလေး မေရီသည် ခမည်း တော်ကြီး၏ ခန်းဆောင်ထဲသို့ဝင်လာခဲ့ကာ အိပ်ရာအနီးသို့ ကပ်လာခဲ့ သည်။ ခမည်းတော်ကြီးသည် အိုးဝန်းကိုကျောမှီ၍ အိပ်ရာ  ပေါ်တွင် လဲလျောင်းလျက်ရှိသည်။ သေးငယ်၍ အရိုး ငေါ်ထွက်နေသောလက်များသည် မွေ့ရာထက်တွင် ကျလျက်ရှိ၏။ ပြာနှမ်းသောသွေးကြောကြီးများသည် အထွေး လိုက် အထွေးလိုက် ပေါ်လျက်ရှိ၏။ မင်းသားကြီး ဘို လကွန်စကီ၏ လက်ဝဲဘက်မျက်လုံးသည် ရှေ့တည့်တည့် သို့ စူးစိုက်ကြည့်လျက်ရှိပြီး လက်ယာဘက်မျက်လုံးသည် တစ်ဖက်စောင်းလျက်ရှိ၏။ လက်ယာဘက်မျက်ခုံးနှင့် နှုတ်ခမ်းသည်လည်း လှုပ်ရှားခြင်း မ

ရှိတော့ချေ။ ကိုယ် ခန္ဓာသည်လည်း ကျုံ့၍ သေးငယ်သွားကာ သနားစဖွယ် ဖြစ်နေ၏။ မျက်နှာသည် တစ်ဖက်ရဲ့ လျက်ရှိ၍ လက်ဆံ ခြေဆံများသည်လည်း ကျုံ့ဝင်သွားသည်ဟု ထင်ရသည်။ မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီး အနီးသို့ လျှောက်သွားကာ လက်ကို နှုတ်ခမ်းဖြင့် ထိလိုက်သည်။ ခမည်းတော်ကြီး၏ လက်ဝဲဘက်လက်သည် မင်းသမီး ကလေး မေရီကို ဖက်ထားလိုက်၏။ ဤသည်ကို ထောက် ၍ ခမည်းတော်ကြီးသည် မိမိအား အချိန်အတော်ကြာ ကပင် စောင့်စားလျက်ရှိကြောင်း မင်းသမီးကလေး မေရီ သဘောပေါက်မိသည်။ မင်းသားကြီး ဘိုလကွန်စကီသည် သမီးတော်၏လက်ကို ဆွဲ၍ညှစ်ထား၏။ ၎င်း၏မျက်ခုံး တစ်ဖက်နှင့် နှုတ်ခမ်းတစ်ဖက်ကား ဒေါသကြောင့် တဆတ် ဆတ် တုန်လျက် ရှိလေသည်။

မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီးကို - စိတ်ပျက်အားငယ်စွာ ကြည့်လိုက်ရာ မိမိအား မည်သည့် အကြောင်းကြောင့် ဒေါသထွက်နေရပြန်သနည်းဟု တွေး မိသည်။ မင်းသမီးကလေး မေရီက အနေအထားပြောင်း၍ ထိုင်လိုက်သည့်အတွက် ၎င်း၏ဝဲဘက်မျက်လုံးဖြင့် တည့် တည့်မြင်ရသည့်အခါတွင်မှ ခမည်းတော်မင်းသားကြီးသည် စိတ်တိုင်းကျသွားဟန်ဖြင့် ငြိမ်သက်သွားပြီး နောက် သမီး တော်မေရီကို စက္ကန့်အတန်ကြာမျှ စူးစိုက်ကြည့်နေလေ သည်။ နှုတ်ခမ်းများနှင့် လျှာကို လှုပ်လိုက်သည်တွင် စူးစူး ဝါးဝါးအသံများ ထွက်လာ၏။ ထို့နောက် ခမည်းတော် မင်းသားကြီးသည် ၎င်း၏စကားများကို နားမှ လည်ပါလေမည်လောဟု စိုးရိမ်ကြောင့်ကြဖြစ်လျက်ရှိရာက သမီးတော် မေရီအား သနားစဖွယ် တောင်းပန်တိုးလျှိုးသောအကြည့် မျိုးဖြင့် ကြည့်၍ စကားပြောလျက် ရှိလေသည်။

မင်းသမီးကလေး မေရီသည် အစွမ်းကုန် အာရုံ စိုက်၍ ခမည်းတော် မင်းသားကြီးကို အကဲခတ်လျက်ရှိ၏။ ခမည်းတော်ကြီးက လျှာကိုလှုပ်၍ စကားပြောရန် ကြိုး စားနေပုံမှာ မြင်ရသူအဖို့ ရင်ဆိုဖွယ်ကောင်းလှသဖြင့် မင်းသမီးကလေး မေရီသည် မကြည့်ရက်တော့ဘဲ မျက်လွှာ ကို ချလိုက်မိသည်။ ရင်ထဲတွင်လည်း အလုံးကြီး ဆို့တက် လာသည်။ ခမည်းတော်မင်းသားကြီးသည် လျှာကိုလှုပ် ကာ တစ်စုံတစ်ရာကို ထပ်ပြန်တလဲလဲ ပြောလျက်ရှိ၏။ မင်းသမီး ကလေး မေရီသည် ခမည်းတော်မင်းသားကြီး၏ စကားကို ကောင်းစွာနားမလည် ချေ။ စိတ်မှန်းဖြင့် နား ထောင်နေပြီးနောက် ခမည်းတော်ကြီးကို ပြန်၍ မေးရ သည်။

"စ စ စိတ် ချ ချောက် လား" ခမည်းတော် မင်း သားကြီးသည် ထိုစကားလုံး များချည်း ထပ်ပြန်တလဲလဲ ပြောဆိုလျက်ရှိ၏။

ဤသို့ ဗလုံးဗထွေးဖြစ်နေသော စကားများကို မည် သူ နားလည်နိုင်ပါမည်နည်း။ သမားတော်ကြီးကမူ ထို စကားလုံးများ၏ အဓိပ္ပာယ်ကို မိမိနားလည်သည် ဟု ယူဆ ၏။

"သိပ်ကြောက်သလားလို့ ပြောတာလား ကိုယ် တော်ကြီး" သမားတော်ကြီး က မေးလိုက်သည်။ မင်းသား ကြီး ဘိုလကွန်စကီသည် ခေါင်းကိုယမ်းလိုက်ပြီး နောက် ထပ်၍ပြောပြန်သည်။ သို့ရာတွင် ပီသခြင်း မရှိချေ။

"စိတ်ချောက်ချားတယ်လို့ ပြောတာလား ဖေ ဘုရား" မင်းသမီးကလေး မေ ရီက မေးပြန်သည်။

မင်းသားကြီးဘိုလကွန်စကီက ဟုတ်မှန်ကြောင်း ဖြင့် ဗလုံးဗထွေး အသံပြု လိုက်ပြီးနောက် သမီးတော်၏ လက်ကိုဆွဲကာ ၎င်း၏ရင်ဘတ်ပေါ်သို့ တင်

စေသည်။ သို့ရာတွင် တစ်နေရာတည်း၌ တင်စေခြင်းမပြုဘဲ နေရာ မှန်ကို ရှာဖွေပေးသည့်အလား ထိုမှဤမှ စမ်း၍ ရွှေ့ပေး လျက် ရှိလေသည်။

“သမီးတော် သမီးတော်အတွက် စိတ် စိတ် စိတ်ပူတယ်” မင်းသားကြီးဘိုလကွန်စကီသည် မိမိ၏ စကားကိုနားလည်ပြီဟု အားတက်လာကာ ပိုမိုပီသစွာ ပြောစပြုလာ၏။

မင်းသမီးကလေးမေရီသည် ရင်ထဲတွင် လှိုက်၍ ဖြစ်လာသောငိုချင်စိတ်ကို မနည်းကြီး ချုပ်တည်းထားရင်း က ခမည်းတော်ကြီး၏လက်ထဲတွင် မျက်နှာကို အပ်ထား  လိုက်သည်။

မင်းသားကြီး ဘိုလကွန်စကီသည်  `မင်းသမီး ကလေး မေရီ၏ဆံပင်များကို ပွတ်သပ်လျက် ရှိ၏။

“သမီးတော်ကို တစ်ညလုံး ဖေဖျား မေးနေတယ်” မင်းသားကြီး၏ပါးစပ်မှ ပီပီသသကြီး ထွက်ပေါ်လာသည်။

“ဟုတ်ကဲ့ ဖေဖျား၊ သမီးတော် သိပါတယ်။ ဖေဖျား စိတ်အနှောင့်အယှက်ဖြစ်မှာစိုးလို့ သမီးတော် ( မလာတာပါ” မင်းသမီးကလေး မေရီ၏အသံမှာ ငိုသံ ( ပါလာသည်။ “

မင်းသားကြီးဘိုလကွန်စကီသည် သမီးတော် မေရီ ၏လက်ကို ဆုပ်ထားပြန်သည်။

“အိပ်လို့ ပျော်ရဲ့လား”

“သမီးတော် မအိပ်ပါဘူး ဖေဖျား” မင်းသမီး ကလေး မေရီက ခေါင်းယမ်း၍ ပြောလိုက်သည်။

မင်းသမီးကလေး မေရီသည် မသိမသာဖြင့် ခမည်း တော်ကြီးကဲ့သို့ လက်ဟန် ခြေဟန်နှင့် ပြောလိုက်သည်။ မင်းသမီးကလေး မေရီ၏ လျှာမှာလည်း လေးလာသည်ဟု ထင်မှတ်ရ၏။

"ဖေဖျားရဲ့ အချစ်ဆုံး၊ အတွယ်တာဆုံး" မင်းသမီး ကလေး မေရီသည် ခမည်းတော်မင်းသားကြီး၏စကားကို လုံးဝဥဿုံနားမလည်သော်လည်း ခမည်းတော်ကြီးသည် ယခင်တစ်ခါမျှ မရှိဖူးသော နူးညံ့ချိုသာခြင်းဖြင့် ချစ်ခင် ကြင်နာဖွယ်စကားများကို ဆိုလျက်ရှိခြင်းဖြစ်ကြောင်း ကောင်းစွာသဘောပေါက်နားလည်ပေသည်။

"ဘာဖြစ်လို့ မလာတာလဲ သမီးတော်ရယ်၊ လာခဲ့ ရောပေါ့"

မင်းသမီးကလေး မေရီသည် မိမိအပေါ်တွင် တစ် သက်လုံးနှိပ်နှိပ်နယ်နယ် ပြောဆိုလေ့ရှိသော ခမည်းတော် ကြီး၏နှုတ်ဖျားမှ ကြင်နာယုယသည့်စကားများကို ကြား "လိုက်ရသည့်အခါတွင် ရင်ထဲတွင် ဆို့၍ လာလေသည်။ ခမည်းတော်ကြီးကံတော်ကုန်ရန် ဆုတောင်းခဲ့သည့်အတွက် လည်း နောင်တရလျက် ရှိလေသည်။

မင်းသားကြီး ဘိုလင်ကွန်စကီသည် အတန်ကြာမျှ တိတ်ဆိတ်လျက်ရှိ၏။

"ကျေးဇူးတင်တယ် သမီးတော်၊ ဖေဖျား သမီး တော်အပေါ်မှာ ချုပ်ချယ်ခဲ့မိတာတွေအတွက် ခွင့် ခွင့်လွှတ်  နော် သမီးတော်၊ ဘယ်လို ဘယ်လိုမှ မအောက်မေ့နဲ့နော်" မင်းသားကြီးဘိုလင်ကွန်စကီ၏မျက်လုံးတွင် မျက်ရည်တွေ ရစ်ဝဲလာ၏။

"အင်ဒရေကော အင်ဒရေကို ခေါ်ပေးစမ်းပါဦး"

မင်းသားကြီးဘိုလင်ကွန်စကီက မရဲတရဲပြောလိုက် သည်။ ၎င်း၏စိတ်ထဲ၌ သားတော် မင်းသားကလေး အင်ဒရေကို အခေါ်သာခိုင်းရသော်လည်း သား

တော်သည် မိမိအား စိတ်ဆိုးလျက်ရှိကာ လာမှ လာပါတော့မည်လော ဟု စိုးရိမ်လျက်ရှိပြန် တူလေသည်။

"အင်ဒရေ့ဆီက စာတစ်စောင်ရပါတယ် ဖေဖျား"

မင်းသားကြီးဘိုလကွန်စကီသည် မရွံ့မရဲအံ့အား သင့်ဟန်ဖြင့် သမီးတော် မေရီကို ကြည့်လိုက်သည်။

"ခု သားတော် ဘယ်ရောက်နေသလဲ"

"တပ်တော်ကြီးနဲ့အတူ စစ်မြေကို ရောက်နေပါ တယ် ဖေဖျား၊ ခု စမိုးလင့်မှာ ရှိပါတယ်" ။

မင်းသားကြီးဘိုလကွန်စကီသည် မျက်လုံးများကို မှိတ်ထားကာ အတန်ကြာ တိတ်ဆိတ်လျက် ရှိသည်။ ထို့ နောက် အားလုံးကို သတိရလာဟန်ဖြင့် ခေါင်းကို ပိတ်၍ မျက်လုံးများကို ဖွင့်လိုက်ပြန်သည်။

"အင်း သင်းတို့ ဖျက်ဆီးကြလို့ ရုရှားနိုင်ငံတော် ကြီးလဲ ပျက်စီးတော့မယ်" မင်းသားကြီးက ခပ်တိုးတိုး ပြောလိုက်သည်။

ထို့နောက် မင်းသားကြီးဘိုလကွန်စကီသည် ရှိုက် ၍ငိုလျက်ရှိလေသည်။ မျက်ရည်များသည် ပါးပြင်ပေါ်သို့ စီးကျလာကြ၏။ မင်းသမီးကလေး မေရီမှာလည်း ချုပ် တည်းခြင်းငှာ မတတ်နိုင်တော့ဘဲ ခမည်းတော်ကြီးကို ကြည့်၍ ငိုနေမိလေသည်။

ခဏကြာလျှင် မင်းသားကြီး ဘိုလကွန်စကီသည် မျက်လုံးများကို ပြန်၍မှိတ်လိုက်၏။ ငိုရှိုက်ခြင်းကိုလည်း ရပ်လိုက်၏။ ထို့နောက် ၎င်း၏မျက်လုံးများကို လက်ညှိုး ဖြင့် ထိုးပြလိုက်သည်။ တီကွန်သည် သူ့သခင် မင်းသား ကြီး ဆိုလိုသည့်အဓိပ္ပာယ်ကိုနားလည်ကာ မျက်ရည်များ သုတ်ပေးလျက် ရှိလေသည်။

ထို့နောက် မင်းသားကြီးဘိုလကွန်စကီသည် မျက် လုံးများကိုဖွင့်ကာ အတန်ကြာမျှ စကားပြောနေသည်။ သို့ ရာတွင် ၎င်း၏စကားများကို မည်သူမျှ ကောင်းစွာနား  မလည်ကြချေ။ တီကွန်တစ်ယောက်သာ ဝိုးတိုးဝါးတား နားလည်၍ အဓိပ္ပာယ်ပြန်ပြသည်။ မင်းသမီးကလေး မေရီ သည် ခမည်းတော် ကြီး၏စကားများကို လည်းကောင်း၊ ထိုအချိန်၌ ခမည်းတော်ကြီး၏ရင်ထဲတွင် ဖြစ်ပေါ်နေသော ခံစားချက်များကိုလည်းကောင်း မှန်းဆတွေးတောလျက် ရှိသည်။ ခမည်းတော်ကြီးသည် ရုရှားနိုင်ငံတော်ကြီး၏ အကြောင်းကိုလည်းကောင်း၊ မင်းသားကလေးအင်ဒရေ၏ အကြောင်းကို လည်းကောင်း၊ မိမိ၏အကြောင်းကို လည်း ကောင်း၊ မြေးငယ် “ဘိုးအချစ်” မင်းသားကလေးအကြောင်း ကို လည်းကောင်း၊ မိမိကံတော်ကုန်တော့မည့်အကြောင်းကို လည်းကောင်း ပြောဆိုနေခြင်း ဖြစ်တန်ရာသည်ဟုသာ တွေးရတော့သည်။ စကားလုံးများကိုကား - နားမလည် တော့ပြီ။

“သမီးတော်၊ သမီးတော် ဝတ်စုံအဖြူကို ဝတ်စမ်း ပါ၊ အဲဒီဝတ်စုံအဖြူကို သမီးတော်ဝတ်တာ မြင်ရရင် ဖေဖျား စိတ်ကြည်လင်လွန်းလို့”

မင်းသမီးကလေး မေရီသည် ထိုစကားလုံးများကို ကား သဲကွဲစွာနားလည်လိုက်၏။ သို့ရာတွင် ရင်ထဲ၌ မချိတော့သဖြင့် ရှိုက်၍ငိုလိုက်မိသည်။ သမားတော်သည် မင်းသမီးကလေး မေရီ၏ လက်မောင်းကိုဆွဲကာ အပြင်သို့ ခေါ်လာခဲ့၍ ချော့မော့ပြီးနောက် ခရီးထွက်ဖို့ အဆင်သင့် ပြင်ရန် ပြောလေသည်။ မင်းသမီးကလေး မေရီ ထွက်သွား သည့် နောက်၌ကား မင်းသားကြီး ဘိုလကွန်စကီသည် သားတော်မင်းသားကလေးအင်ဒရေအကြောင်းကို လည်း ကောင်း၊ စစ်အကြောင်းကို လည်းကောင်း၊ ဘုရင်မင်းမြတ် အကြောင်းကိုလည်းကောင်း တတွတ်တွတ် ပြောဆိုလျက် ရှိလေသည်။ ၎င်း၏မျက်ခုံးတစ်ဖက်သည် တဆတ်ဆတ် တုန်လျက်

ရှိကာ အသံသည် ကွဲအက်လျက် ရှိသည်။ ထို့ နောက်၌ကား ဒုတိယနှင့် နောက်ဆုံး အကြိမ် သတိလစ်၍ သွားပြန်လေသည်။

မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီး၏ ခန်းဆောင်မှ ထွက်လာခဲ့၍ အပြင်ဘက်စကြီးတွင် ရပ်လျက် ရှိသည်။ ထိုနေ့၌ ကောင်းကင်တွင် မိုးတိမ်တို့ ကင်းစင် လျက် နေရောင်ခြည်များသည် ဩကာသလောကကြီးပေါ် သို့ ဖြာကျလျက် ရှိ၏။ မင်းသမီးကလေး မေရီသည် မည် သည့်အရာကိုမျှ မြင်လည်း မမြင်၊ ကြားလည်း မကြား၊  သိလည်း မသိဘဲ ခမည်းတော်ကြီးအပေါ်တွင် ထားရှိသော မိမိ၏ ချစ်ခြင်းမေတ္တာကိုသာ တွေးတောနေမိသည်။ မင်း သမီးကလေး မေရီ၏စိတ်၌ ခမည်းတော်ကြီးအား ဤမျှ လောက် မည်သည့်အခါကမျှ ချစ်ခင်တွယ်တာခြင်းမရှိခဲ့ဟု ထင်မှတ်လျက်ရှိသည်။ မင်းသမီးကလေး မေရီသည် ငို ရှိုက်ကာ ပန်းခုံထဲသို့ ပြေးဆင်းလာခဲ့ပြီး မင်းသားကလေး အင်ဒရေ စိုက်ပျိုးထားခဲ့သည့် သံပရာပင်များအောက်က လမ်းကလေးအတိုင်း ရေကန်ကလေးများသို့ လျှောက်လာ ခဲ့သည်။

"ငါဟာ စိတ်သဘောထားပုပ်တဲ့ မိန်းမ၊ ငါ့ တစ်ကိုယ်ကောင်းကြည့်ပြီး ခမည်းတော်ကြီး မြန်မြန်ကံ တော်ကုန်ပါစေလို့ ဆုတောင်းခဲ့တဲ့မိန်းမ၊ ကိုယ့်စိတ်ချမ်း သာမှုလောက်ကိုသာ ကြည့်ပြီး ခမည်းတော်ကြီးအပေါ်မှာ ပြစ်မှားခဲ့တဲ့မိန်းမ၊ ခုတော့ ဒုက္ခလှလှကြီး တွေ့ပြီ၊ အကျိုး နည်းပြီ၊ ဘယ့်နှယ်လုပ်ကြတော့မလဲ ဟင်၊ ခမည်းတော် ကြီး ကံတော်ကုန်ရင် စိတ်ချမ်းသာမယ်လို့ ထင်တဲ့ မိန်းမ၊ ခုတော့ စိတ်ချမ်းသာသေးရဲ့လား၊ ပျော်သေးရဲ့လား ဟင်၊ မိန်းမယုတ်" မင်းသမီးကလေး မေရီသည် ထိုစကားများကို ရွတ်ဆို၍ ငိုရှိုက်ရင်း ရင်ကို လက်ဖြင့် ဖိထားမိသည်။

မင်းသမီးကလေး မေရီသည် ဤသို့ ပန်းခုံထဲ၌ ခြေဦးတည့်ရာလျှောက်၍ ငိုကြွေးပြီးနောက် စံအိမ်ဘက် သို့ ပြန်လာခဲ့၏။ ထိုအခိုက် ဘိုဂူချာရိုဗိုတွင် နေရစ်

ခဲ့မည့် ပြင်သစ် ဘုရင်းသည် ညှော့သည်တစ်ယောက်နှင့် အတူ မိမိထံသို့လာ နေသည်ကို မြင်ရ၏။ ထိုသူမှာ ထိုဒေသရှိ သူကောင်းမျိုးနွယ်များ၏ နာယက ဖြစ်၍ မင်းသမီးကလေး မေရီအား ဘိုဂူချာရိုဗိုမှ အမြန်ဆုံးထွက်ခွာသွားဖို့ အချိန် တော်ပြီဖြစ်ကြောင်း လာရောက်ပြောကြားခြင်း ဖြစ်လေ သည်။ မင်းသမီးကလေး မေရီသည် ၎င်း၏စကားများကို သညာကင်းမဲ့သူကဲ့သို့ နားထောင်၏။ ထို့နောက် စံအိမ် ထဲသို့ခေါ်လာကာ ညှော့ခံ၏။ အတန်ကြာလျှင် ခွင့်တောင်း ကာ ခမည်းတော် မင်းသားကြီး၏ ခန်းဆောင်သို့လာခဲ့၏။ သမားတော်ကြီးသည် မျက်နှာမသာမယာ ဖြင့် ထွက်လာ ကာ မင်းသမီးကလေး မေရီအား ခန်းဆောင်ထဲသို့ မဝင် ရန် တားမြစ်လေသည်။

"ထိပ်ထားလေး အပြင်ခဏသွားနေပါ" မင်းသမီးကလေး မေရီသည် ပန်းခုံ ထဲသို့ ဆင်းလာ ခဲ့ပြန်ကာ ကန်ပေါင်ဘေးရှိ မြက်ခင်းကလေးပေါ်၌ ထိုင် ချလိုက်မိသည်။ ထိုနေရာကလေးမှာ တိတ်ဆိတ်၍ လူသူ ကင်းရှင်းလျက်ရှိသည်။ မည်မျှ ကြာအောင် ထိုင်နေမိသည် မသိ။ ပြေးလာသောခြေသံတစ်ခုကို ကြားရသည့်အခါ တွင်မှ မင်းသမီးကလေး မေရီ သတိရလာသည်။ မင်းသမီး ကလေး မေရီသည် ထိုင်ရာမှထလိုက်သည်တွင် မိမိအား လိုက်ရှာနေဟန်တူသော အစေတော် ဒွန်ယာ ရှာကို တွေ့ ရ၏။ ဒွန်ယာရှာသည် ၎င်း၏ထိပ်ထား သခင်မလေးကို မြင်လိုက်သည် တွင် ကြက်သေသေ၍ ရပ်နေလေသည်။

"ထိပ်ထား ထိပ်ထား၊ မြန်မြန်ဖျော့ မြန်မြန်၊ ကိုယ်တော်ကြီး ကိုယ်တော် ကြီး" ဒွန်ယာရှာသည် စကား မပြောနိုင်ဘဲ အသက်ကို ပြင်းစွာရှူလျက်ရှိ၏။

"လာပြီ ဒွန်ယာရှာ လာပြီ" မင်းသမီးကလေး မေရီသည် ဒွန်ယာရှာ၏စကား ဆုံးအောင် မစောင့်နိုင် တော့ဘဲ ခပ်သုတ်သုတ်ပြန်ပြောကာ စံအိမ်ဘက်သို့ ပြေး လာခဲ့၏။

"ထိပ်ထားလေး စိတ်ခိုင်ခိုင်ထားပါ၊ ဘုရားသခင် အလိုတော်ကျ ဖြစ်ရတာ ပေပဲ" သူကောင်းမျိုးနွယ်များ၏ နာယကပုဂ္ဂိုလ်က စံအိမ်ဝအရောက်တွင် ဆီး၍ပြောလိုက် သည်။

"ဘာတွေပြောနေကြတာလဲ၊ ထိပ်ထားကို ဒီစကား တွေ မပြောပါနဲ့၊ ထိပ်ထား နားမလည်ဘူး ဖယ်ကြပါ" မင်းသမီးကလေး မေရီသည် ဒေါသတကြီး အော်လိုက် သည်။

သမားတော်ကြီးသည် ရှေ့မှရပ်၍ တား၏။ မင်းသမီးကလေး မေရီသည် သမားတော်ကြီးကို အတင်း တွန်းထိုးဖယ်ရှားကာ ခမည်းတော်ကြီး၏ ခန်းဆောင်သို့ ပြေးလာခဲ့သည်။ "ဒီလူတွေဟာ ငါ့ကို ဘာကြောင့် တား ထားကြတာလဲ၊ မျက်နှာတွေလဲ မကောင်းကြဘူး" ဟု တွေးကာ မင်းသမီးကလေးမေရီသည် ခန်းဆောင်တံခါးကို ဖြုန်းခနဲ တွန်းဖွင့်လိုက်၏။ ယခင်က မည်းမှောင်လျက်ရှိ သည့် အခန်းထဲတွင် နေရောင် လင်းထိန်လျက်ရှိခြင်းကို မြင် လိုက်သည်၌ မင်းသမီး ကလေး မေရီသည် ရုတ်တရက် လန့်၍ သွားမိ၏။ ခန်းဆောင်ထဲတွင် မိမိ၏အထိန်းတော် ကြီးနှင့် အခြားမိန်းမများကို တွေ့ရသည်။ ၎င်းတို့အားလုံး သည် မင်းသမီးကလေးမေရီကို မြင်သည်တွင် ခုတင်အနီးမှ ဖယ်ပေးကြ၏။ ခမည်းတော်မင်းသားကြီးမှာ ခပ်စောစော ကကဲ့သို့ပင် ခုတင်ပေါ်တွင် လဲလျောင်း လျက်ရှိ၏။ သို့ရာ တွင် လှုပ်ရှားခြင်းမရှိတော့သော မျက်နှာပေါ်မှ ခက်ထန် တင်းမာသောအမူအရာကို မြင်လိုက်ရသဖြင့် မင်းသမီး ကလေး မေရီသည် တံခါးဝ တွင် တော့သွားလေသည်။

"မဟုတ်ဘူး ဖေဖျား မသေရဘူး၊ မသေရဘူး၊ မဖြစ်နိုင်ဘူး" မင်းသမီး ကလေး မေရီသည် တစ်ယောက် တည်းရွတ်ဆိုကာ ကြောက်စိတ်ကိုချိုးနှိမ်ရင်း ရှေ့သို့ တိုး လာခဲ့ပြီးနောက် ခမည်းတော်မင်းသားကြီး၏ပါးကို နှုတ် ခမ်းဖြင့် ထိ

လိုက်သည်။ ထို့နောက် ချက်ချင်း နောက်သို့ ဆုတ်လိုက်မိသည်။ ယခင်က ခမည်းတော်ကြီးအပေါ်၌ ထားခဲ့သော ကြင်နာသနားခြင်းတို့သည် တစ်မုဟုတ်ချင်း ပျောက်ကွယ်သွားကြကာ ရှေ့တွင်ရှိသော အသုဘကောင် ကြီးအား ကြောက်လန့်စိတ်တို့သည် ဝင်ရောက်လာကြ လေသည်။

"မရှိတော့ဘူး၊ ဖေဖျား မရှိတော့ဘူး၊ ဟင် ဖေဖျား မရှိတော့ဘူး၊ ဖေဖျားရဲ့ နေရာမှာ ဒီခန္ဓာကိုယ်ကြီးသာ ကျန်တော့တယ်၊ ဟုတ်တယ်၊ ဒီလိုပဲ ကြည့်နေကြတော့မှာ လား ဟင်၊ ထိပ်ထားကို မကယ်နိုင်ကြတော့ဘူးလား" မင်းသမီးကလေး မေရီသည် မျက်နှာကို လက်ဝါးဖြင့်အုပ်၍ ငိုချလိုက်ကာ လဲကျသွားသည်တွင် သမားတော်ကြီးက ဆီး၍ ပွေ့လိုက်လေသည်။

သမားတော်ကြီးနှင့် ကျွန်ယုံကြီးတီကွန်၏ရှေ့၌ မိန်းမတစ်သိုက်သည် တစ်ခါက မင်းသားကြီး ဘိုလကွန် စကီဟူသောနာမပညတ်ကိုဆောင်သည့် ရုပ်အလောင်း ကြီးကို ရေမိုးချိုးပေးကာ ဟလျက်ရှိသည့်ပါးစပ်ကို စေ့သွား ရန် ခေါင်းကို ပဝါဖြင့် စည်းပေးကြ၏။ အခြားပဝါတစ် ထည်ဖြင့် ကားလျက်ရှိသော ခြေထောက်အစုံကို ပူး၍ ချည်ပေးကြ၏။ ထို့နောက် ဗိုလ်ချုပ်ဝတ်စုံနှင့်တကွ ရင်သိုင်းဘယက်၊ ဆုတံဆိပ်အဆောင်အယောင်များကို ဆင် ယင်ကာ သေးကွေးကြုံလှီလျက်ရှိသော ခန္ဓာကိုယ်ကို စားပွဲ ပေါ်သို့ တင်ထားလိုက်ကြ၏။ ဤကိစ္စများကို မည်သူက ခိုင်းစေ၍ ပြုလုပ်ကြခြင်းဖြစ်သည်ကို မသိသော်လည်း ၎င်းတို့သည် အလိုအလျောက် ဖြစ်လာသကဲ့သို့ အားလုံး ပြီးစီးပြီးသား ဖြစ်နေကြသည်။ ညအချိန်၌ အလောင်း၏ ပတ်ပတ်လည်တွင် ပျားဖယောင်းတိုင်များကို ထွန်းညှိထား ကာ အလောင်းပေါ်၌ အဝတ်လွှမ်းထားလိုက်ကြ၏။ ခန်း ဆောင်ကြမ်းပြင်ကိုလည်း ဆေးရည်များ ပက်ဖျန်းထား လေတော့သည်။ ရှုံ့တွလျက်ရှိသော ခေါင်းအောက်တွင် ပန်းရိုက် အဝတ်စတစ်စကိုလည်း ဖြန့်ခင်းထား၏။ ခန်း

ဆောင်ထောင့်တစ်နေရာတွင် သူတော်တစ်ယောက်သည် ဆာလံကျမ်းကို ရွတ်ဖတ်လျက်ရှိလေသည်။

မြင်းသေကောင်တစ်ကောင်၏ အနီးတွင် မြင်းများ သည် တရှူးရှူးမှုတ် ထုတ်ကာ ရစ်ဝဲရစ်ဝဲ လုပ်နေကြသည့် .ပမာ စံအိမ်သူ စံအိမ်သားများနှင့် ဧည့်သည် များသည် လည်း ဧည့်ခန်းထဲ၌စုရုံးကာ အလောင်းအနီးတွင် ဝိုင်းအုံ လျက်ရှိကြ၏။ သူကောင်းမျိုးနွယ်များ၏ နာယကပုဂ္ဂိုလ်၊ ရွာလူကြီးနှင့်တကွ လယ်သူမများသည် ကြောက်ရွံ့ထိတ် လန့်သောမျက်လုံးများဖြင့် စိုက်ကြည့်ကာ လက်ယှက်ဆု တောင်း၍ ဦးညွှတ်ကြပြီးလျှင် မင်းသားကြီး၏ အေးစက် တောင့်တင်းနေပြီဖြစ် သောလက်ကို နမ်းရှုပ်ခြင်း ပြုကြ လေသည်။

# အခန်း ၉

ဘိုဂူချာရိုဗို ဒေသသည် မင်းသားကြီး ဘိုလကွန်စကီ၏ ပိုင်စားနယ်မြေ ဖြစ် သော်လည်း မင်းသားကြီးသည် ထို ဒေသသို့ လာရောက်နေထိုင်ခြင်းမပြုဘဲ ကိစ္စ အဝဝကို အဝေးမှသာ စီမံခန့်ခွဲအုပ်ချုပ်ခြင်း ပြုခဲ့သည်။ ထို့ကြောင့် ဘိုဂူချာရိုဗိုရှိ မြေကျွန်များသည် ၎င်းတို့၏သခင်ကို ကောင်း စွာ သိကျွမ်းခြင်း မရှိကြချေ။ မင်းသားကလေး အင်ဒ' ရောက်လာသည့်အခါတွင်မှ ၎င်းတို့၏သခင်ကို တွေ့ဖူး မြင်ဖူးလေတော့သည်။ ထိုဒေသရှိ မြေကျွန်များသည် တောင်ကတုံးဒေသရှိ မြေကျွန်များကဲ့သို့ မဟုတ်ဘဲ အသွင် အပြင် စိတ်သဘောထား ခြားနားကြ၏။ စကားအပြော အဆို၌ လည်းကောင်း၊ ဝတ်စားဆင်ယင်မှု၌ လည်းကောင်း၊ အပြုအမူ၌ လည်းကောင်း တစ်ဘာသာဖြစ်လျက် ရှိ၏။ ၎င်းတို့ကို အရှေ့ဘက် မြက်ခင်းလွင်ပြင်ဘက်မှ ကျေးတော သားများဟု ခေါ်ကြ၏။ ထိုမြေကျွန်များသည် ကောက် သိမ်းခြင်း၊ ရေကန်တူးခြင်း၊ တူးမြောင်းဖောက်ခြင်း စသည့် ကိစ္စများ

ပေါ်လာလျှင် လုပ်အားကူရန်အတွက် တစ်ခါတစ်ရံ "တောင်ကတုံး"သို့ လာရောက် လေ့ရှိကြ၍ အလုပ်ကို မခို မကပ် ကြိုးကြိုးပမ်းပမ်းလုပ်တတ်ကြ၏။ ထိုအခါ၌ မင်း သားကြီး ဘိုလကွန်စကီသည် ထိုမြေကျွန်များကို သဘော ကျ၏။ သို့ရာတွင် ထိုမြေကျွန်များမှာ အလုပ်ကို ကြိုးစား သလောက် စိတ်နေစိတ်ထား အပြောအဆို ရိုင်းစိုင်း ကြမ်းကြုတ်ကြသဖြင့် မင်းသားကြီး ဘိုလကွန်စကီသည် ၎င်းတို့ကို နှစ်သက်ခြင်းမရှိလှချေ။

ဘိုဂူချာရိုဗိုသို့ မင်းသားကလေးအင်ဒရေ ရောက် လာပြီးနောက် မြေကျွန် များအတွက် ကျောင်းများနှင့် ဆေးရုံ များဆောက်ပေးခြင်း၊ သီးစားခ လျှော့ပေး ခြင်း စသည့် ပြုပြင်မှုများကို ပြုလုပ်ခဲ့သော်လည်း ထိုမြေကျွန်များ၏ စိတ်နေသဘောထားမှာ နူးညံ့သိမ်မွေ့ခြင်း မရှိရုံမျှမက ပို၍ပင် ရိုင်းစိုင်းကြမ်းတမ်း လာကြသေး၏။ ကောလာဟလ သတင်းအမျိုးမျိုးလည်း ထိုမြေကျွန်များကြား၌ ပေါ်ပေါက် လျက်ရှိပေ၏။ ၎င်းတို့အားလုံးကို ကော့ဆက်မြင်းတပ်ထဲ တွင် စစ်သည်အဖြစ် သွတ်သွင်းတော့မည်ဟုလည်းကောင်း၊ ဘာသာတစ်ခုသို့ သွတ်သွင်းတော့မည်ဟု လည်းကောင်း၊ ၁၇၉၇-ခုနှစ် ဇာဘုရင်၏ ပြန်တမ်းနှင့် ပေါ လ်ဘုရင်၏ ကျမ်းသစ္စာကျိန်ဆိုချက်အရ ၎င်းတို့အား ကျွန်အဖြစ်မှ ဘေးမဲ့လွှတ် ခြင်းကို မြေရှင်များက ကန့်ကွက်လျက် ရှိသည် ဟု လည်းကောင်း၊ တတိယ မြောက်ပီတာဘုရင်ကြီး (နန်း ချ၍ အသတ်ခံရသူ) သည် နတ်ရွာစံခြင်းမရှိဘဲ ခုနှစ် နှစ် အတွင်း ထီးနန်း ပြန်၍ တက်လိမ့်မည်ဟု လည်းကောင်း၊ ထိုအခါ အားလုံးကို လွတ်လပ်ခွင့်ပေးတော့မည်ဟု လည်း ကောင်း၊ ကောလာဟလများ ဖြစ်ပေါ်လျက် ရှိ၏။ စစ်ပွဲကြီး နှင့် တကွ ဘိုနာပတ်အကြောင်းကိုမူကား ၎င်းတို့သည် ရေရာ နားလည်ခြင်း မရှိကြဘဲ ဘိုနာပတ်သည် ဒိဋ္ဌိ တက္ကတွန်းဟူ၍ လည်းကောင်း၊ အ န္တိခရစ်ဟူ၍ လည်း ကောင်း၊ ၎င်းသာစိုးမိုးပါက ကမ္ဘာကြီး ပျက်စီးတော့မည် ဟူ၍လည်းကောင်း နားလည်လျက် ရှိကြ၏။

ဘိုချာရိုဗို ဒေသတစ်ဝိုက်၌ ဘုရင်မင်းမြတ်၏ ပိုင်စားရွာကြီးနှင့် မြေရှင်ပဒေသရာဇ်များ၏ ပိုင်စားရွာ ကြီးများ ရှိကြ၍ ၎င်းဒေသမှ မြေကျွန်များသည် သီးစားခ ကိုလျှော့ပေါ့ပေးကြကာ လွတ်လပ်စွာအလုပ်လုပ်နိုင်သည့် အခွင့်အရေးများ ရှိကြ၏။ မြေရှင်ပဒေသရာဇ်များသော် လည်းကောင်း၊ စာပေဗဟုသုတ အနည်းငယ်ရှိသည့် မြေ ကျွန်များသော်လည်းကောင်း မရှိကြသည့်အတွက် ထို ဒေသ  တစ်ဝိုက်ရှိ မြေကျွန်များမှာ ယခုခေတ်လူများ နားမလည် နိုင်အောင်ပင် လွန်မင်းစွာအယူသီးကြ၏။ ဥပမာပြရလျှင် လွန်ခဲ့သော အနှစ်နှစ်ဆယ်လောက်က ထိုဒေသရှိ မြေကျွန် များသည် မည်သို့မည်ပုံ စိတ်ကူးပေါက်လာကြသည်မသိ။ ရေကြည်ရာ မြက်နုရာ'ဒေသများရှိသည်ဟုဆိုကာ အရပ် တစ်ပါးသို့ အစုလိုက်အပြုံလိုက်ပြောင်းရွှေ့ခဲ့ကြဖူး၏။ ဘိုဂူချာရိုဗို မြေကျွန်များအပါအဝင် မြေကျွန် ရာပေါင်း ထောင်ပေါင်းများစွာတို့သည် ၎င်းတို့ ကျွဲ၊ နွား၊ တိရစ္ဆာန် များကို ရောင်းချကာ တောင်ပိုင်းသို့ အိမ်ထောင်လိုက် ပြောင်းရွှေ့သွားခဲ့ကြလေသည်။ ငှက်များသည် ပင်လယ် တစ်ဖက်ကမ်းသို့ကူးခတ်၍ အသိုက်အအုံ ပြောင်းရွှေ့သွားကြသည့်နည်းတူ ၎င်းတို့သည်လည်း သားမယားများကို ခေါ်ဆောင်ကာ မိမိတို့ ရောက်ဖူးခြင်းမရှိသော ဒေသများ သို့ လှည်းတန်းကြီးများဖြင့် ထွက်ခွာသွားခဲ့ကြလေသည်။ တချို့ကလည်း ၎င်းတို့ကိုယ်ကို ကျွန်ပိုင်ရှင်ထံတွင် ငွေနှင့် ရွေးနုတ်၍ ထွက်သွားကြသည်။ တချို့ကလည်း တိတ် တဆိတ် ထွက်ပြေးကြသည်။ အတန်ကြာသော် အချို့သည် အဖမ်းခံရကာ ပြစ်ဒဏ်စီရင်ခြင်းခံကြရ၏။ အချို့လည်း ဆိုက်ဘေးရီးယားသို့ နယ်နှင်ခြင်းခံရ၏။ အချို့လည်း လမ်းတွင်ပင် ငတ်မွတ်ခြင်း၊ အအေးမိခြင်းကြောင့် သေသေ ပျက်စီးကြ၏။ အချို့လည်း ၎င်းတို့ ဘာသာပြန်ရောက်လာ ကြလေသည်။ ဤသို့ဖြင့် မည်သည့်အကြောင်းမျှ မရှိဘဲ အစုလိုက် အအုံလိုက် ပြောင်းရွှေ့သွားကြပြီး မည်သည့် အကြောင်းမျှ မရှိဘဲ ပြန်လာခဲ့သည်။ ဤသို့သော အယူ သီးမှုများသည် ယခုထက်တိုင် ဘိုဂူချာရိုဗို

ကျွန်များထဲ တွင် အမြစ်တွယ်လျက် ရှိပေသေးသည်။ ၁၈၁၂- ခုဌ် ထိုအယူသီးမှု များသည် ဘိုဂူချာရိုဗို ကျေးလက် မြေကျွန်များ ထဲ၌ ပေါက်ကွဲ ပွင့်အန်ထွက်တော့ မည်ကဲ့သို့ ရင့်မာလျက် ရှိခြင်းကို သေချာစွာလေ့လာကြည့်ရှုက တွေ့မြင်ရမည် ဖြစ်ပေသည်။

မင်းသားကြီး ဘိုလကွန်စကီ ကံတော်မကုန်မီ ကလေးတွင် "တောင်ကတုံး'မှ ဘိုချာရိုဗိုသို့ ရောက်ရှိ လာသည့် စာရင်းဒိုင်ချုပ် အယ်ပါတစ်သည် ဘိုဂူချာရိုဗို ကျေးလက်ကျန်များသည် "တောင်ကတုံး"မှ မြေကျွန် များကဲ့သို့ မဟုတ်ဘဲ တစ်မူထူးခြားကာ လှုပ်လှုပ်ရွရွဖြစ် လျက်ရှိခြင်းကို သတိပြုမိ၏။ မိုင်ခြောက်ဆယ်အချင်းဝက်  ရှိ "တောင်ကတုံး" ဒေသတွင် မှီတင်းနေထိုင်ကြသော မြေ ကျွန်များသည် စစ်၏အန္တရာယ်ကြောင့် ရွာများမှ အစုလိုက် အအုံလိုက် ပြောင်းရွှေ့လျက် ရှိကြချိန်တွင် ဘိုဂူချာရိုဗို ကျေးလက်ရှိ မြေကျွန်များကား ပြောင်းရွှေ့ခြင်းမပြုဘဲ ပြင်သစ်တပ်များနှင့် အဆက်အသွယ်ရယူကာ ပြင်သစ် စာရွက်စာတမ်းများကို ဝေငှဖြန့်ဖြူးလျက်ရှိသည်ဟု ကြား သိရလေသည်။ အယ်ပါတစ်၏ သစ္စာရှိသောတပည့်များ ထံမှ ကြားသိရသောသတင်းများအရ ကျေးရွာများတွင် အတော်အတန် ဩဇာတိက္ကမရှိသည့် ကုပ်ဆိုသူ လယ် သမားတစ်ဦးသည် ချောလှည်းလိုက်သွားရာမှ ရွာသို့ပြန် ရောက်လာပြီးနောက် ရုရှားကော့ဆက် တပ်များက ကျေးရွာ များကို ဖျက်ဆီးလျက်ရှိကြောင်း၊ ပြင်သစ်တပ်များကမူ ကျေးရွာလူထုအား မည်သို့မျှ အန္တရာယ်မပေးကြောင်း ဖြင့် လှည့်လည် ဝါဒဖြန့် နေသည်ဟု ကြားသိရ၏။ တစ်နေ့ ကလည်း လယ်သမားတစ်ယောက်သည် ပြင်သစ်တပ် များ သိမ်းပိုက်ထားသော ဗီလိုခိုဗိုရွာမှ ပြင်သစ်ဗိုလ်ချုပ် တစ်ဦးက ထုတ်ပြန်သောကြေညာချက်များကို ယူဆောင် လာသည်ဟု အယ်ပါတစ် ကြားသိရ၏။ ထိုကြေညာချက် ၌ ပြင်သစ်တပ်များသည် ကျေးရွာလူထုကို မည်သို့မျှ

အန္တရာယ်ပြုမည် မဟုတ်ကြောင်း၊ ၎င်းတို့ထံမှ ပစ္စည်း များကို အဖိုးအခပေး၍ ယူမည်ဖြစ်ကြောင်း ပါရှိသည်ဟု ဆိုလေသည်။ ထိုလယ်သမားသည် မိမိ၏မြင်းစာ ကောက် ရိုးများ ရောင်းချ၍ရသည့် ဒင်္ဂါးတစ်ရာဖိုးရှိသော ငွေစက္ကူ များကိုပင် ထုတ်ပြသေးသည်။ (စင်စစ်၌ ၎င်းငွေစက္ကူ များမှာ အတုများဖြစ်သည်။) ထို့ထက် အရေးကြီးသောအချက်တစ်ရပ် ရှိသေး ၏။ ထိုနေ့နံနက်က အယ်ပါတစ်သည် ကျေးရွာလူထု ကြီးကို ဆင့်ဆိုကာ ထိပ်ထားသခင်မလေး မေရီ၏ ပစ္စည်း များကို ဘိုဂူချာရိုဗိုမှ ရွှေ့ ပြောင်းရန်အတွက် လှည်းအဆင့် ခိုင်းလေသည်။ ထိုအချိန်၌ ကျေးရွာသားများသည် အစည်း အဝေးများကျင်းပကာ ထိုနေရာမှ ပြောင်းရွှေ့ခြင်း မပြုရန် ဆုံးဖြတ်ကြသည်ဟု ကြားရ၏။ မင်းသားကြီး ဘိုလကွန် ၁ကီကံတော်ကုန်သည့် ဩဂုတ်လ၁၅ရက်နေ့၌ သူကောင်း မျိုးနွယ်များ၏နာယကသည် ဤနေရာတွင် လုံခြုံမှု မရှိ တော့သည့်အတွက် မင်းသမီးကလေး မေရီအား အမြန်ဆုံး ပြောင်းရွှေ့ရန် တိုက်တွန်းခဲ့လေသည်။ ထိုနေ့ ကျော်လွန်  သည့်တိုင် ပြောင်းရွှေ့ ခြင်းမပြုပါက မိမိတွင် တာဝန်မရှိ တော့ကြောင်းဖြင့်လည်း ပြောကြားခဲ့၏။ မင်းသားကြီး ဘိုလကွန်စကီ ကံတော်ကုန်သည့်ညနေ၌ ထိုပုဂ္ဂိုလ်သည် နောက်တစ်နေ့ ဈာပနအခမ်းအနားကျမှ လာတော့မည်ဟု ပြောဆိုကာ ပြန်သွားလေသည်။ သို့ရာတွင် သူကောင်းမျိုး နွယ်များ၏နာယကပုဂ္ဂိုလ်သည် ဈာပနသို့လည်း မလာနိုင် တော့ချေ။ ပြင်သစ်တပ်များသည် မမျှော်လင့်ဘဲ ချီတက် လာကြပြီဖြစ်သည့်အတွက် အဖိုးတန်ပစ္စည်းများကို သယ် ဆောင်ကာ အိမ်သူအိမ်သားများနှင့် အတူ ဒရောသောပါး ထွက်ပြေးသွားခဲ့လေပြီ။

ဘိုဂူချာရိုဗို ကျေးလက်ကို နှစ်ပေါင်းသုံးဆယ်လုံး လုံး ဒရွန်အမည်ရှိ ကျေးရွာလူကြီးက အုပ်ချုပ်လာခဲ့လေ ၏။ မင်းသားကြီး ဘိုလကွန်စကီသည် ဒရွန်အား “ဒရွန် ရူရှကာ” ဟု ချစ်စနိုးခေါ်လေ့ရှိသည်။

ဒရွန်မှာ အရွယ်ရောက်သည်နှင့် မုတ်ဆိတ်ဖား ဖားကြီးများ ပေါက်လာခဲ့သည့် စိတ်ကြမ်းလူကြမ်း လယ် သမားကြီး ဖြစ်၏။ ဒရွန်သည် ယခု အသက်ခြောက်ဆယ် ကျော်၍ ခုနစ်ဆယ်တွင်း ရောက်လာသည်အထိ မုတ်ဆိတ် တစ်ပင်တလေမျှ ဖြူခြင်းမရှိ၊ သွားတစ်ချောင်း ကျိုးခြင်း မရှိဘဲ အသက်သုံးဆယ်အရွယ်လူတစ်ယောက်ကဲ့သို့ သန်စွမ်းကျန်းမာလျက် ရှိပေသေးသည်။

ဒရွန်သည် အခြားသောလယ်သမားများနှင့်အတူ "ရေကြည်ရာ မြက်နုရာသို့ ရွှေ့ပြောင်းသွားခဲ့ပြီးနောက် ပြန်ရောက်လာခဲ့သည်တွင် ၎င်းအား မင်းသားကြီးဘိုလကွန် စကီက ဘိုဂူချာရိုဗို ကျေးရွာလူကြီး အဖြစ် လည်းကောင်း၊ စာရင်းဒိုင်အဖြစ်လည်းကောင်း ခန့်အပ်ခဲ့ရာ နှစ်ဆယ့်သုံး နှစ်လုံးလုံး အပြစ်အနာအဆာမရှိဘဲ သစ္စာရှိစွာ အမှုထမ်း ခဲ့၏။ မြေကျွန်များသည် မင်းသားကြီး ဘိုလကွန်စကီကို ကြောက်သည်ထက်ပင် ဒရွန်ကို ကြောက်ကြသေး၏။ မင်းသားကြီးဘိုလကွန်စကီသည် လည်းကောင်း၊ မင်းသား ကလေးအင်ဒရေသည်လည်းကောင်း၊ စာရင်းဒိုင်ချုပ် အယ် ပါတစ်သည်လည်းကောင်း ဒရွန်ကို များးစွာချစ်ခင်နှစ် သက်လေ့ရှိ၍ "သက်တော်ရှည်ဝန်ကြီး"ဟု နောက်ပြောင်၍ ခေါ်လေ့ရှိ၏။ ဒရွန်သည် ဘိုဂူချာရိုဗိုတွင် စာရင်းဒိုင်အဖြစ် အမှုထမ်းခဲ့သည့် ကာလတွင် မူးယစ်သောက်စားခြင်း၊ နာဖျားမကျန်းဖြစ်ခြင်းဟူ၍ တစ်ခါမျှ မရှိခဲ့ဖူးချေ။ အပင် ပန်းဆုံးအလုပ်များကို လုပ်၍ ညလုံးပေါက် အိပ်ရေးပျက် ပြီးသည့်နောက်တွင်လည်း အနည်းငယ်မျှ ပင်ပန်းနွမ်းနယ် ဟန် မဖြစ်ခဲ့ဖူးချေ။ စာမဖတ်တတ်သော်လည်း ငွေစာရင်း ကိုလည်းကောင်း၊ မင်းသားကြီးဘိုလကွန်စကီထံ ပို့သည့် ဂျုံတင်းရေများကိုလည်းကောင်း၊ ဘိုဂူချာရိုဗိုတွင် မည် သည့်လယ်က ကောက်နှံ မည်မျှထွက်သည်ကို လည်း ကောင်း မေ့သည်ဟူ၍ မရှိချေ။ ဒိုးခနဲ ဒေါက်ခနဲ ပြော နိုင်သည်သာ ဖြစ်လေသည်။

စစ်တလင်းဖြစ်လျက် ရှိသော "တောင်ကတုံး'မှ ရောက်ရှိလာပြီးနောက် အယ်ပါတစ်သည် မင်းသားကြီး ဘိုလကွန်စကီ၏စျာပနကိစ္စ ပြီးသည့်နေ့တွင် ရှာလူကြီး ဒရွန်ကိုအခေါ်လွှတ်ကာ ထိပ်ထားကလေး မေရီ၏ ရထား နှင့် ထိပ်ထားကလေး၏ပစ္စည်းများကို တင်ဆောင်မည့် ဝန်တင်လှည်းဆယ့်နှစ်စီးအတွက် မြင်းဆယ့်နှစ်ကောင်ကို အဆင်သင့်ပြင်ဆင်ထားရန် ပြောလိုက်၏။ အယ်ပါတစ် သည် အိမ်ထောင်ပေါင်း နှစ်ရာ့သုံးဆယ်ရှိ၍ အထိုက် အလျောက် ပြည့်ပြည့်စုံစုံရှိသော ဘိုဂူချာရိုဗိုတွင် မြင်း ဆယ့်နှစ်ကောင်လောက်ကို အချိန်မရွေး ရလိမ့်မည်ဟု မျှော်လင့်၏။ သို့ရာတွင် အယ်ပါတစ်၏စကားကို ကြား သည်၌ ဒရွန်သည် အင်းမလုပ် အဲမလုပ်ဖြင့် မျက်လွှာကို ချ၍ နေ၏။ အယ်ပါတစ်က လှည်းများအတွက်လည်း မည်သို့ လှည်းကိုခေါ်ခဲ့ရမည် ဖြစ်ကြောင်းဖြင့် ၎င်းသိကျွမ်း သောမြေကျွန်များ၏အမည်ကို ရွတ်ပြလိုက်သည်။

ဒရွန်က ထိုမြေကျွန်များ၏ မြင်းများမှာ ချောလှည်း လိုက်သွားကြ၍ မရှိကြောင်းဖြင့် ဖြေကြား၏။ ထို့ကြောင့် အယ်ပါတစ်က အခြားအမည်များကို ရွတ်ပြပြန်သည်။ သို့ရာတွင် ထိုမြေကျွန်များ၌လည်း ယခု လောလောဆယ် မြင်းမရှိဟု ဒရွန်က ပြောဆိုပြန်သည်။ အချို့က အစိုးရ ချောလှည်းဆင့်၍ လိုက်ပါသွားသည်ဟုလည်းကောင်း၊ အချို့မြင်းများမှာ လှည်းမဆွဲနိုင်ဟုလည်းကောင်း၊ အချို့ မြင်းများမှာ အစာရေစာမရှိသဖြင့် သေကုန်ကြပြီဟု လည်းကောင်း အကြောင်းအမျိုးမျိုးပြလေသည်။ ဤပုံ အတိုင်းသာဆိုလျှင် ဝန်တင်လှည်းဆွဲရန် မပြောနှင့် လူစီး ကရထားဆွဲရန်မြင်းပင် ရစရာအကြောင်း မရှိတော့ချေ။

အယ်ပါတစ်သည် ဒရွန်ကို မျက်မှောင်ကုတ်ကာ စိုက်ကြည့်လျက် ရှိ၏။ ဒရွန်သည် စံပြရှာလူကြီးတစ် ယောက်ဖြစ်သကဲ့သို့ အယ်ပါတစ်သည်လည်း အနှစ်နှစ် ဆယ်လုံးလုံး သစ္စာရှိစွာထမ်းရွက်ခဲ့သည့် စံပြစာရင်းဒိုင်ချုပ် မဟုတ်ပါလော။ အယ်ပါတစ်သည် မိမိနှင့် ဆက်ဆံသူ၏ စိတ်တွင် ဖြစ်ပေါ်လျက်ရှိသည့်ဆန္ဒများ

နှင့် တကွ ထိုသူ၏ ပကတိစိတ်ကို အကဲခတ်ခြင်းအရာ၌ ရှာမှ ရှားလောက် အောင် ပါးနပ်ထက်မြက်သော စံပြစာရင်း ဒိုင်တစ်ယောက် ဖြစ်သည့်အလျောက် ဒရွန်ကို တစ်ချက်မျှ အကဲခတ်လိုက် ပြီးနောက် ဒရွန်၏ ခပ်အင်အင် သဘောထား များသည် ၎င်း၏ပင်ကိုသဘောထားမဟုတ်ဘဲ ဘိုဂူချာရိုဗိုကျေးလက် မြေကျွန် များ၏ဆန္ဒဖြစ်၍ ဒရွန်မှာ ထိုဆန္ဒများကို ကိုယ်စား ပြုရသူသာဖြစ်ကြောင်း နားလည်လိုက်လေပြီ။ ဒရွန်ကိုယ်၌ ကလည်း ပစ္စည်းဥစ္စာ အတော်အတန်ရှိ၍ တစ်ရွာလုံးက မုန်းတီးခံရခြင်းကြောင့် အထက်က သခင်နှင့် အောက်က ငယ်သား များအကြားတွင် မည်သည့်ဘက်က လိုက်ရမည် နည်းဟု ဝေခွဲမရဖြစ်နေဟန် တူ ပေသည်။ ဒရွန်၏မျက်လုံး များသည် ဤသို့ ဝေခွဲမရဖြစ်လျက်ရှိဟန်ကို ဖော်ပြ လျက် ရှိကြ၏။ ထို့ကြောင့် အယ်ပါတစ်သည် မျက်မှောင်ကြီး ကုတ်လိုက်ကာ ရှေ့ နားသို့ တိုးလာခဲ့သည်။

"ဒီမှာ ဒရွန် ကျုပ်ပြောနေတာကို သေသေချာချာ နားထောင်ပါ၊ ကျုပ်ကို ယီးတီးယားတား စကားတွေ ပြောမနေနဲ့၊ ဒီပိုင်စားနယ်မြေက လယ်သမားတွေ အားလုံး ကို ရန်သူ့လက်ထဲ ထားမပစ်ခဲ့ရဘူး၊ ရွှေ့ပြောင်းစေရမယ် လို့ ကိုယ်တော် ကလေးအင်ဒရေကိုယ်တိုင် ကျုပ်ကို အမိန့် ပေးခဲ့တယ်၊ ဘုရင်မင်းမြတ်ကလဲ ဒီ အတိုင်းပဲ အမိန့်တော် ပြန်တမ်းထုတ်ထားတယ်၊ ဒီလိုမှမဟုတ်ဘဲ ရန်သူ့နယ်ထဲ ချန်ရစ်ခဲ့ရင်တော့ ချန်နေရစ်တဲ့လူဟာ ဘုရင်မင်းမြတ်ရဲ့ သစ္စာတော်ကို မနာခံဘူး လို့ ယူဆရလိမ့်မယ် ကြားရဲ့လား"

"ကြားပါတယ်" ဒရွန်က မော့မကြည့်ဘဲ ဖြေလိုက် အယ်ပါတစ်က ထိုအဖြေ ကို မကျေနပ်နိုင်သေးချေ။

"ကဲ ကြားရင် အဲဒါပဲ၊ နောက်တော့သာ အဆိုး မဆိုကြနဲ့" အယ်ပါတစ်က ခေါင်းကို ယမ်း၍ ပြောလိုက် ၏။

“ဒါတော့ ဆရာလေးလက်ခုပ်ထဲကရေ၊ သွန်လို သွန် မှောက်လို မှောက်ပေါ့” ဒရွန်က ဝမ်းပန်းတနည်း နှင့် ပြန်ပြောလိုက်သည်။

”တော်ဗျာ ဒါတွေ ပြောမနေနဲ့” အယ်ပါတစ် သည် လက်ကို ရင်ဘတ်ပေါ်တွင်တင်ထားရာက ရုပ်လိုက် ပြီးဒရွန်ရပ်လျက်ရှိသောကြမ်းပြင်ကို တည့်တည့်ကြီး လက် ညှိုးထိုးထားလိုက်ကာ

”ဒီမှာ ဒရွန်၊ ကျုပ်ကို ဒီအပေါက်မျိုးတွေ မချိုး နဲ့၊ ခင်ဗျား ဗိုက်ထဲမှာ အူဘယ်နှစ်ခွေရှိတယ်ဆိုတာ သိရုံ တင်မကဘူး၊ ခင်ဗျာအောက် မြေကြီးထဲ သုံးတောင် လောက်တူးပြီး မြင်တယ် မှတ်ထား”

ဒရွန်သည် ဣန္ဒြေပျက်သွားကာ အယ်ပါတစ်ကို တစ်ချက်မျှလှမ်းကြည့်ပြီးနောက် အောက်သို့ ငုံ့ကြည့်နေ ပြန်သည်။

“ကဲ ဒီတော့ အဓိပ္ပာယ်မရှိတဲ့စကားမျိုးကို နောက် ထပ် ပြောမနေနဲ့၊ ရွာသူရွာသားတွေ အားလုံးကို မော်စကို ရွှေ့ရမယ်လို့သာ ပြောလိုက်ပါ၊ ထိပ်ထားလေးအတွက်လဲ မနက်ဖြန် မြင်းတွေအားလုံး အဆင်သင့်ဖြစ်ပါစေ၊ ဘယ်အစည်းအဝေးကိုမှလဲ သွားမတက်ပါနဲ့ ဒါပဲ”

ဒရွန်သည် ဖြုန်းခနဲ ဒူးထောက်ထိုင်ချလိုက်သည်။

“အယ်ပါတစ် ကျုပ်ကို အလုပ်က ထုတ်ပစ် လိုက်ပါတော့ဗျာ၊ ကျုပ်ဆီက သော့တွေ ယူပါတော့၊ ကျုပ်ကို အလုပ်က ထုတ်ပစ်လိုက်ပါတော့”

“တော်စမ်းဗျာ” အယ်ပါတစ်က အော်လိုက်သည်။ “ကျုပ် ခင်ဗျားအောက် မြေကြီးထဲ သုံးတောင်လောက် တူးမြင်တဲ့လူပါ”

အယ်ပါတစ်မှာ ပျားမွေးခြင်းအတတ်၌ သူမတူ အောင် ကျွမ်းကျင်ခြင်း၊ မည်သည့်အချိန်တွင် ကောက်ပဲ သီးနှံ စိုက်ပျိုးရမည်ကို ခန့်မှန်းတွက်ချက်တတ်ခြင်း၊ မင်းသားကြီး ဘိုလကွန်စကီ၏ယုံကြည်မှုကို နှစ်ပေါင်း နှစ်ဆယ်လုံးလုံးရရှိခြင်းကြောင့် ၎င်းကို လယ်သမားများက အောက်လမ်းပညာတတ်သည်ဟု ပြောဆိုလျက်ရှိကြ၏။ ယခုတစ်ဖန် အယ်ပါတစ်က မြေကြီးအောက်သုံးတောင် လောက်တူးပြီးမြင်သည်ဟု ဆိုနေပြန်သည့်အခါတွင်မူကား ဒရွန်သည် အယ်ပါတစ်ကို စိမ့်၍ကြောက်လာလေသည်။

ဒရွန်သည် ထိုင်ရာမှ ထကာ တစ်စုံတစ်ခုပြော ရန် ဟန်ပြင်လိုက်၏။ သို့ရာတွင် အယ်ပါတစ်က တား လိုက်ကာ

”ဒရွန် ခင်ဗျားခေါင်းထဲမှာ ဘယ်လို စိတ်ကူး  တွေရောက်နေတာလဲဟင် ဘယ်လိုဖြစ်နေတာလဲ”

“ခက်တာပဲဗျာ ဒီလူတွေကို ကျုပ်လဲ ထိန်းလို့မရ တော့ဘူး၊ အရမ်းတွေ လျှောက်လုပ်ကုန်ကြပြီ၊ ကျုပ် ကိုယ်တိုင်လဲ ပြောပြီးပြီ”

“နောက်တစ်ခါ ထပ်ပြောဦးဗျာ၊ ဘာလဲ ခင်ဗျား လူတွေ မူးနေကြသလား”

အယ်ပါတစ်က ခပ်ဆတ်ဆတ်မေးလိုက်၏။

“မူးလိုက်တာလဲ ဝက်ဝက်ကွဲပဲ၊ ခုလဲ အရက် တစ်စည် ဖောက်ကြပြန်ပြီ”

“ဒီမှာ ဒရွန် နားထောင်စမ်း၊ ခုပုံအတိုင်းသာဆို ရင် ရဲအရာရှိကို ခေါ်ရလိမ့်မယ်၊ ခင်ဗျားလူတွေကိုလဲ ပြောလိုက်ပါ ဒီအပြုအမူတွေကို ရပ်တန်းက ရပ်ပါ၊ မနက်ဖြန်လဲ လှည်းတွေ အဆင်သင့်ဖြစ်နေပါစေ ဒါပဲ”

“ဟုတ်ကဲ့”

အယ်ပါတစ်သည် နောက်ထပ်တိုက်တွန်းခြင်း မပြုတော့ချေ။ အယ်ပါတစ်သည် လူများစွာကို ကာလ အတန်ကြာမျှ အုပ်ချုပ်ခဲ့ဖူးပြီဖြစ်၏။ ထို့ကြောင့် မိမိ၏ အမိန့်တစ်ခုကို လက်အောက်ငယ်သားက လိုက်နာအောင် လုပ်ရာ၌ အထိရောက်ဆုံးသောနည်းလမ်းမှာ မိမိ၏အမိန့် ကိုနာခံမှ နာခံကြပါမည်လောဟူသော မရွံ့မရဲ အမူအရာ မျိုးကို ၎င်းတို့ရှေ့တွင် ယောင်၍မျှ မပြမိရန်ဖြစ်ကြောင်း အတွေ့အကြုံအရ သိပြီး ဖြစ်၏။ ဤသို့ဖြင့် အယ်ပါတစ် သည် "ဟုတ်ကဲ့" ဟူသော အာမခံချက်တစ်ခွန်းကို ဒရွန့် ထံမှ မရအရ ညှစ်ထုတ်ခဲ့ပြီးနောက် ကိုယ့်ကိုယ်ကို အတော် ကြီး ကျေနပ်သွား၏။ သို့ရာတွင် ဤလှည်းများရရေးကိစ္စ မှာ ရဲအာဏာပိုင်များ၏ အကူအညီမပါဘဲ ဖြစ်နိုင်ဖွယ် မရှိကြောင်းကိုကား အယ်ပါတစ် ကောင်းကောင်း ကြီး သိခဲ့လေပြီ။

အယ်ပါတစ်ထင်သည့်အတိုင်းပင် ညနေစောင်း သည်အထိ လှည်းများ ရောက်မလာကြသေးချေ။ ရွာထဲရှိ ဘုံဆိုင်၌ကား မြေကျွန်များသည် အစည်းအဝေးကျင်းပ ကာ မြင်းများကို တောထဲတွင် ဝှက်ထားရန်၊ လှည်းများ မ ပေးရန် ဆုံးဖြတ်လိုက်ကြ၏။ အယ်ပါတစ်သည် ဤ အခြင်းအရာကို မင်းသမီး ကလေး မေရီအား ပြောမပြဘဲ "တောင်ကတုံး" မှပါလာသော လှည်းများပေါ်မှ မိမိ၏ ပစ္စည်းများကို ချစေပြီးနောက် ထိုလှည်းများမှ မြင်းများ ကို မင်းသမီး ကလေး မေရီ၏ ရထားများတွင် တပ်စေ၏။ ထို့နောက် အယ်ပါတစ်သည် ရဲ အာဏာပိုင်များထံသို့ ထွက် လာခဲ့လေသည်။

# အခန်း ၁၀

ခမည်းတော်ကြီး၏စျာပနကိစ္စ ပြီးသည့်နောက်၌ မင်းသမီး ကလေး မေရီသည် အပြင်သို့ မထွက်ဘဲ အခန်းအောင်း လျက် ရှိ၏။ မည်သူ့ကိုမျှလည်း ဝင်ခွင့်မပေးတော့ချေ။ အစေခံမိန်းမတစ်ယောက်သည် တံခါးဝသို့ ရောက်လာကာ ခရီးထွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ အယ်ပါတစ်က မည်သို့ မည်ပုံ စီစဉ်ရမည်ကို အမေးခိုင်းလိုက်ကြောင်းဖြင့် လာ ရောက်ပြောကြား၏။ (ထိုစဉ် အယ်ပါတစ်နှင့် ဒရွန်တို့ မတွေ့ကြသေး။) မင်းသမီးကလေးမေရီသည် ထိုင်ဖုံပေါ် တွင် လှဲနေရာက ထထိုင်လိုက်ပြီးနောက် တံခါးကို ဖွင့် မပေးဘဲ မိမိသည် ဘိုဂူချာရိုဗိုမှ ထွက်ခွာသွားမည် မဟုတ် ကြောင်း၊ ထို့ကြောင့် နောက်ထပ် အနှောင့်အယှက်မပေး စေလိုကြောင်းဖြင့် ပြောကြားလိုက်သည်။

မင်းသမီးကလေး မေရီ၏ ခန်းဆောင်မှ ပြတင်း ပေါက်များသည် အနောက်ဘက်သို့ မျက်နှာမူလျက် ရှိ၏။ မင်းသမီးကလေး မေရီသည် နံရံကို မျက်နှာမူရင်း ထိုင်ဖို့ ပေါ်တွင် လှဲလျောင်းလျက်ရှိရာက သိုးရေမှီအုံးမှ ကြယ် သီးကလေးများကို လက်ချောင်းများဖြင့် ပွတ်သပ်ကစား လျက် ရှိ၏။ ၎င်း၏မျက်စိ၌ သိုးရေမှီအုံးကိုသာမြင်၏။ အခြား ဘာကိုမျှမမြင်။ ၎င်း၏ နောက်ကျ ရှုပ်ထွေးလျက် ရှိသော အတွေးများသည်လည်း ပြဿနာတစ်ခုတည်း၌ သာ ဝဲလည်လျက်ရှိ၏။ ထိုပြဿနာကား ထိတ်လန့်ဖွယ် သော မရဏတရားနှင့် ခမည်းတော်ကြီး မကျန်းမာစဉ်က ခမည်းတော်ကြီးအပေါ် မနောကံအားဖြင့် ပြစ်မှားမိခဲ့သော မိမိ၏ပြစ်မှုကြီးပင် ဖြစ်၏။ မင်းသမီးကလေး မေရီသည် မိမိအား ခွင့်လွှတ်ရန်အတွက် ဘုရားသခင်၏ရှေ့မှောက် တွင် ဆုတောင်းမည်ဟု ကြံစည်စိတ်ကူးမိသေးသော်လည်း မိမိကဲ့သို့ စိတ်ထားယုတ်ညံ့လှသူတစ်ယောက်သည် ဘုရား

သခင်၏ရှေ့တော်မှောက်သို့ ဝပ်တွားခြင်းငှာပင် မထိုက် တော့ပြီဟု ထင်မှတ် လျက် ရှိလေသည်။ ဤသို့ဖြင့် မင်း သမီးကလေး မေရီသည် အချိန်အတော်ကြာမျှ ထိုင်ဖုံပေါ် တွင် လှဲလျောင်းနေမိလေသည်။

ထိုအချိန်တွင် နေဝန်းသည် အနောက်ဘက်သို့ စောင်းစပြုနေပြီဖြစ်၏။ စောင်းရွေသော နေရောင်ခြည် များသည် ပြတင်းပေါက်မှ ဖြာကျလာသောခန်း ဆောင်ကို လင်းထိန်စေ၍ မင်းသမီးကလေးမေရီ စူးစိုက်ကြည့်လျက်ရှိ သော သိုး ရေမှီအုံးပေါ်သို့ တစ်ပိုင်းတစ်စ ထိုးကျလာ၏။ ထိုအခါကျတော့မှ မင်းသမီးကလေး မေရီ၏ အတွေးရေ အလျဉ်သည် ရပ်တန့်သွားတော့၏။ မင်းသမီးကလေး မေရီ သည် ရုတ်တရက်ထထိုင်လိုက်ပြီး ဆံပင်ကို ပြင် ထုံးကာ ပြတင်းပေါက်သို့ လျှောက်လာခဲ့ပြီးလျှင် နှင်းမြူ တို့ကင်းစင်လျက်ရှိသော်လည်း လေထန်သော ညနေခင်း၏ သန့်စင်လန်းဆတ်ခြင်းကို ရှုရှိုက်လိုက်မိသည်။

"အို ဒီအကြောင်းတွေကို ငါ မတွေးတော့ဘူး၊ ကြည့်စမ်း၊ ဒီလိုလှပတဲ့ ညနေခင်းမျိုးမှာ စိတ်ကြည်လင် အောင် နေမယ်၊ ဖေဖျားလဲ ကံတော်ကုန်ပြီ၊ ငါ့မှာ ဘယ် သူ့ကိုမှ တွယ်တာစရာ မရှိတော့ဘူး" မင်းသမီးကလေး မေရီသည် ဤသို့ တစ်ယောက်တည်း ပြောဆိုကာ ထိုင်ခုံ၌ ထိုင်၍ ခေါင်းကို ပြတင်းပေါင်ပေါ်တွင် တင်ထားလိုက်မိ သည်။

ပန်းခုံဘက်ဆီမှ မိမိ၏နာမည်ကို ခပ်တိုးတိုးခေါ်သံ ကြားလိုက်ရသည်ဟု မင်းသမီးကလေး မေရီ၏စိတ်တွင် ထင်မှတ်လိုက်၏။ ထို့နောက် မိမိခေါင်းကို တစ်စုံတစ် ယောက်က နမ်းရှုပ်လိုက်သည်ဟု ထင်မိပြန်၏။ မင်းသမီး ကလေးမေရီ သည် မော့၍ကြည့်လိုက်သည်။ ဝတ်စုံအနက် ကို ဝတ်ထားသည့် ပြင်သစ်သူဘူ ရင်းကို တွေ့ရပေ၏။ ပြင်သစ်သူဘူရင်းသည် မင်းသမီးကလေး မေရီအနီးသို့ ရောက်လာကာ သက်ပြင်းချ၍ မင်းသမီးကလေး မေရီကို နမ်းလိုက်ပြီးနောက် ငို

ရှိုက်လျက် ရှိလေသည်။ မင်းသမီး ကလေးမေရီသည် ပြင်သစ်သူဘူရင်းကို ေငး ကြည့်နေမိ သည်။ ပြင်သစ်သူ ဘူရင်းအား မနှစ်မြို့သောစိတ်၊ မနာလို သောစိတ် တို့သည် ပြန်၍ ဖြစ်ပေါ်လာကြပြန်၏။ သို့ရာ တွင် ခမည်းတော်ကြီးသည် နောက်ပိုင်း၌ ပြင်သစ်သူ ဘူရင်းနှင့် အရောတဝင်နေထိုင်ခြင်းမပြုတော့ဘဲ ခပ်စိမ်းစိမ်း ဆက်ဆံခဲ့ခြင်းကိုလည်း အမှတ်ရလာပြန်သည်။ ထို့ ကြောင့် ပြင်သစ်သူ ဘူရင်းအား ယခုအချိန်တွင် စက်ဆုပ် ရွံရှာခြင်း ဖြစ်နေ၍လည်း ဘာမျှ အကြောင်းမထူးတော့ဟူ ၍ သဘောပေါက်လာပြန်သည်။ "ခမည်းတော်တစ်ယောက် လုံးကို မြန်မြန်သေပါစေလို့ ဆုတောင်းမိခဲ့တဲ့မိန်းမမျိုးက သူများအပေါ်မှာ မကောင်းထင်နေရသလား"ဟု ကိုယ့်ကိုယ် ကိုလည်း ဆုံးမမိသည်။

မင်းသမီးကလေး မေရီသည် ပြင်သစ်သူဘူရင်း၏ ဘဝကို တွေးမိသည်။ မိမိသည် ပြင်သစ်သူဘူရင်းကို ခပ်ရှောင်ရှောင်လုပ်ထားခဲ့သည်မှန်သော်လည်း စေ့စေ့တွေး လိုက်သောအခါ ပြင်သစ်သူဘူရင်းသည် မိမိ၏အိမ်တွင် နေ၍ မိမိအရိပ်ကို မှီခိုအားထားနေရသူတစ်ဦးသာ ဖြစ် ကြောင်းတွေးမိသည့်အခါ၌ မင်းသမီးကလေး မေရီသည် ပြင်သစ်သူဘူရင်းကို သနားသွားကာ ကြင်နာစွာ လှမ်း ကြည့်ပြီးနောက် လက်ကို ကမ်းပေးလိုက်သည်။ ပြင်သစ်သူ ဘူရင်းသည် ထိုအခါကျမှ ပို၍ ဝမ်းနည်းသွားဟန်ဖြင့် ငိုချလိုက်ကာ လက်ကိုနမ်းရှုပ်ပြီးနောက် မင်းသမီးကလေး မေရီ၏ပရိဒေဝသောကမီးကို ကူညီ၍ ငြိမ်းသတ်ပေးရာ သည်။ သူကိုယ်တိုင်လည်း အေးအတူ ပူအမျှ ဖြစ်ပါရစေ ဟု ပြော၏။ ယခုအချိန်၌ မိမိမှာလည်း ပူဆွေးသောက ရောက်လျက်ရှိကြောင်း၊ မိမိအတွက် သောကကို ဖြေ ဖျောက်ရန် တစ်ခုတည်းသောနည်းလမ်းမှာ မင်းသမီး ကလေး မေရီနှင့်အတူ သောကကို မျှတခွဲဝေခံစားခြင်း သာဖြစ်ကြောင်း ယခင်က အထင်လွဲခဲ့သည်များကိုလည်း ဤပရိဒေဝသောကမီးတောက်ကြီးထဲ၌ ဖျောက်ဖျက်ပစ် လိုက်စေလိုကြောင်း၊ မိမိအနေဖြင့်မူ မည်သူ့ကိုမျှ စိတ် ကွက်ခြင်းမရှိဘဲ ကံတရားဟုပင် အောက်မေ့ကြောင်း၊ ယခု

အချိန်တွင် ကိုယ်တော်ကြီးသည် ကောင်းကင်ဘုံမှ နေ၍ မိမိ၏ချစ်ခင်မြတ်နိုးခြင်းကို သိလောက်ပြီးဖြစ်ကြောင်းဖြင့် ပြင်သစ်သူဘုရင်းက ပြောဆိုလျက် ရှိ၏။ မင်းသမီးကလေး မေရီသည် ပြင်သစ်သူဘုရင်း၏စကားများကို နားရှိ၍ ကြားနေရသော်လည်း သတိထားမိခြင်း မရှိဘဲ တစ်ချက် တစ်ချက်၌ ၎င်း၏မျက်နှာကိုသာ မေ့၍ ကြည့်နေမိသည်။

ပြင်သစ်သူ ဘုရင်းသည် စကားကို ဖြတ်လိုက်ပြီး နောက် အတန်ကြာမှ

"ထိပ်ထားလေးရဲ့ အဖြစ်ကတော့ တစ်ပူပေါ် နှစ်ပူ ဆင့်ဆိုသလို ဖြစ်နေပြီ ထိပ်ထားလေး၊ ထိပ်ထားလေး ကြည့်ရတာ ကိုယ့်ဘေးဒုက္ခကိုတောင် ကိုယ်မစဉ်းစားနိုင် လောက်အောင် ဖြစ်နေပြီ ထင်ပါတယ်၊ ဒါပေမဲ့ ကျွန်မ  သွားမှဖြင့်"

( အနေနဲ့တော့ ထိပ်ထားလေးကို ဒီအတိုင်းကြည့်နေလို့ မဖြစ်တော့ဘူး ထိပ်ထားလေး၊ အားလုံး ဒုက္ခရောက်လိမ် မယ်၊ ထိပ်ထားလေးဆီကို အယ်ပါတစ်လာတွေ့ပြီးပါပြီ လား၊ ပြောင်းရွှေ့ဖို့ကိစ္စကို ပြောပြီးပါပြီလား"

မင်းသမီးကလေး မေရီသည် မည်သို့မျှ ပြန်မပြော ချေ။ မည်သူ့ကို ပြော၍ မည်သည့်ဒေသသို့ သွားရန်ပြော နေခြင်း ဖြစ်သည်ကိုလည်း နားမလည်ချေ။ "ဒီအချိန်မှာ ဘာကိုမှ စိတ်မကူးချင်ပါဘူး၊ ဘယ်သွားသွား ထူးလဲ မထူးတော့ပါဘူး" ဟု စိတ်ထဲက ပြောလျက်ရှိ၏။ ပါးစပ် ကမူ မည်သို့မျှ မဆိုမိချေ။

"ကျွန်မတို့တွေ ဒုက္ခရောက်တော့မယ် ထိပ်ထား လေး၊ ပြင်သစ်တွေ ဝိုင်းထားကြပြီ၊ ခုအချိန်မှ ပြောင်းရ ရွှေ့ရလို့လဲ မလွယ်တော့ဘူး၊ ခုနေမှ ထွက်သွားရင် လမ်းမှာ ပြင်သစ်တပ်တွေနဲ့ ဝင်တိုးပြီး သုံ့ပန်းအဖြစ် ရောက်ကြတော့မယ်၊ သူတို့လက်ထဲ သုံ့ပန်းအဖြစ် ရောက် မင်းသမီးကလေး မေရီသည် ပြင်သစ်သူဘုရင်း၏ . စကားများကို နားမလည်ဘဲ မော်၍ကြည့်လိုက်မိသည်။

"အို သုံ့ပန်းဖြစ်တော့ကော ဘာဖြစ်သလဲ၊ ခုအချိန် မှာ ထိပ်ထားတော့ ဘာပဲ ဖြစ်ဖြစ် ဖြစ်ချင်ရာ ဖြစ်ပစေ တော့၊ မထူးတော့ဘူး၊ ထိပ်ထားလေး ခမည်းတော် ကြီးကို ဒီလို ပစ်မသွားနိုင်ဘူး၊ ဘာလဲ အယ်ပါတစ်က ပြောင်းဖို့ ရွှေ့ဖို့ ပြောနေ သလား၊ ပြောလိုက်ပါ၊ ထိပ်ထားလေး ဘယ်ကိုမှ မပြောင်းချင်ဘူး၊ ပြောင်းလဲ မ ပြောင်းနိုင်ဘူးလို့"

"ကျွန်မ အယ်ပါတစ်နဲ့ တွေ့ခဲ့ပါတယ် ထိပ်ထား လေး၊ အယ်ပါတစ်က မနက်ဖြန်ပြောင်းရမယ်လို့ ပြောပါ တယ်၊ ဒါပေမဲ့ ကျွန်မသဘောကတော့ ခုအခြေ ရောက်မှ ဒီအတိုင်း ဣမပျက်ဆက်နေတာပဲ ကောင်းမယ်ထင် ပါတယ်၊ ပြောင်းရွှေ့ ကာမှ လမ်းမှာ ပြင်သစ်စစ်သားတွေ လက်ထဲရောက်သွားရင် အခက်၊ ပြင်သစ် စစ်သားတွေ လက်ထဲ မရောက်လို့ ဒီနယ်တစ်ဝိုက်က လယ်သမားတွေ လက်ထဲ ရောက်ရင်လဲ တစ်ဒုက္ခ"

ပြင်သစ်သူဘုရင်းသည် အင်္ကျီအိတ်ထဲမှ စာရွက် တစ်ရွက်ကို ထုတ်ပြ၏။ ထို စာရွက်မှာ ပြင်သစ်ဗိုလ်ချုပ် ရာမြူ၏ ထုတ်ပြန်ကြေညာချက်ဖြစ်၍ အရပ်သူ အရပ်သား များအား ထိုဒေသမှပြောင်းရွှေ့ခြင်း မပြုဖို့ အကြောင်းနှင့်  တကွ ပြင် သစ်အာဏာပိုင်များက သင့်လျော်သောအကာ အကွယ်ပေးမည်ဖြစ်ကြောင်းတို့ကို ဖော်ပြထားသည်။ (ကြေညာချက်မှာ ရုရှားပြည်ဖြစ် စက္ကူပေါ်တွင် ရိုက်ထား ခြင်း မဟုတ်ချေ။) ပြင်သစ်သူဘုရင်းသည် ဗိုလ်ချုပ်ကြီး ရာမြူ၏ ထုတ်ပြန်ကြေညာ ချက်ကို လှမ်းပေးလိုက်၏။

"ကျွန်မအထင်တော့ အဲဒီ ပြင်သစ်ဗိုလ်ချုပ်ဆီကို ထိပ်ထားလေးအနေနဲ့ မေတ္တာရပ်ခံရင် ကောင်းမယ်ထင် တယ်၊ ထိပ်ထားလေးကိုတော့ ကောင်းကောင်း မွန်မွန်ပြုစု ကြလိမ့်မယ် ထင်တာပဲ" . ပြင်သစ်သူ ဘုရင်းက ပြောလိုက်၏။

မင်းသမီးကလေးမေရီသည် ပြင်သစ်ဗိုလ်ချုပ်၏ ထုတ်ပြန်ကြေညာချက်ကို ဖတ်လျက်ရှိ၏။ `ဖတ်ရင်း ၎င်း၏မျက်နှာသည် မဲ့၍လာလေသည်။ .

”ဒီစာရွက်ကို ဘယ်ကရတာလဲ”

“လူတစ်ယောက် လာပေးသွားတယ်၊ ကျွန်မနာ မည်ကိုကြားတော့ ပြင်သစ် လူမျိုးမှန်း သိလို့ ထင်ပါရဲ့” ပြင်သစ်သူဘူရင်းက မျက်နှာနီရဲလျက်ရှိရာက ပြော လိုက် သည်။

မင်းသမီးကလေး မေရီသည် လက်ထဲတွင် ပြင်သစ် ကြေညာချက်စာရွက်ကို ကိုင်လျက် ပြတင်းပေါက်အနီးမှ ထကာ သွေးမရှိတော့သောမျက်နှာဖြင့် ခန်း ဆောင်ထဲမှ ထွက်သွားပြီး တစ်ခါက မင်းသားကလေးအင်ဒရေ၏ စာကြည့်ဆောင် ဖြစ်ခဲ့သော ခန်းဆောင်ထဲသို့ ဝင်သွားလေ သည်။

“ဒွန်ယာရှာ၊ အယ်ပါတစ်ဖြစ်ဖြစ်၊ ဒရွန်ကို ဖြစ် ဖြစ် ထိပ်ထားလေးဆီကို ခေါ် လာခဲ့စမ်း၊ ဘူရင်းကိုလဲ ထိပ်ထားလေးအပါး မလာပါနဲ့လို့ ပြောလိုက်၊ သွားမယ် ခု ချက်ချင်းပြောင်းမယ်”

မင်းသမီးကလေး မေရီသည် ပြင်သစ်တို့ လက် တွင်းတွင်ကျန်ရစ်ခဲ့ရမည့် အရေးကို တွေး၍ ဒေါထွက်လျက် ရှိရာက ဒွန်ယာရှာကို ခိုင်းလိုက်၏။

“ထိပ်ထားတစ်ယောက် ပြင်သစ်တွေလက်ထဲမှာ ကျန်ရစ်ခဲ့ပြီဆိုတဲ့သတင်း ကို အင်ဒရေများကြားရင် ဘယ် လောက်ရင်နာလိုက်မလဲ၊ မင်းသားကြီးဘိုလကွန် စကီရဲ့ သမီးတော်ဖြစ်သူက ပြင်သစ်ဗိုလ်ချုပ် ရာမြူထံ အကူ အညီတောင်းပြီး သူ တို့ပေးတဲ့အကူအညီကို လက်ခံရမတဲ့  ဟင်း ရာဇဝင် ရိုင်းလှတယ်”

မင်းသမီးကလေး မေရီသည် ဤသို့ တွေးလိုက်မိ တိုင်း ကြက်သီးတွေ တဖြန်းဖြန်းထလာကာ မျက်နှာ နီရဲလာသည်။ တစ်ခါမျှ မဖြစ်ဖူးသေးသောဒေါသ

နှင့် မာနတို့သည်လည်း ဘွားခနဲ ပေါ်လာကြကုန်သည်။ ဤ အဖြစ်မျိုးကိုကား နည်းနည်းမျှ မခံနိုင်ပြီ။ ရှက်လည်း ရှက်စရာကောင်းသည်။ အောက်ကျနောက်ကျ လည်း နိုင် လွန်းလှသည်ဟု တွေးမိ၏။

“ဟင်း ဒီပြင်သစ်ကောင်တွေ ထိပ်ထားလေးတို့ စံအိမ်ထဲမှာ လာနေကြ တော့မယ်ပေါ့၊ ရာမြူဆိုတဲ့ ပြင်သစ် ဗိုလ်ချုပ်က အင်ဒရေရဲ့ စာကြည့်ဆောင်ထဲ ဝင်ပြီး အင်ဒရေ ရဲ့ စာရွက်စာတမ်းတွေဖတ်ပြီး ရယ်နေမှာပဲ၊ ပြင်သစ်မ ဘူရင်းဆို တဲ့မိန်းမကလဲ ဘိုဂူချာရိုဗိုစံအိမ်ကြီးကို ပြင်သစ် ဗိုလ်ချုပ်လက်ထဲ ထိုးအပ်ပြီး ပြီ တီတီလုပ်မှာပါ၊ ဒီကောင်မ ဟာ ဒလန်မပဲဖြစ်မှာပဲ၊ ထိပ်ထားလေးကိုတော့ အခန်း ငယ် လေးတစ်ခန်း ပေးထားကြမယ်ပေါ့၊ ပြင်သစ်တပ်သားတွေ ကလဲ ဖေဖျားရဲ့ သင်္ချိုင်းကို တူးပြီး ဖေဖျားရဲ့ ရွှေတံဆိပ် တွေ၊ ရွှေကြယ်ပွင့်တွေ၊ အဆောင်အယောင်တွေကို ဖြုတ် ယူကြတော့မှာပဲ၊ ဖေဖျားအတွက် စိတ်မကောင်း လေဟန် ဆောင်ပြကြပြီး ရုရှားတွေအပေါ်မှာ ဘယ်လို အောင်ပွဲခံ ခဲ့တယ်ဆိုတာ တွေ ပြောကြတော့မှာပဲ”

မင်းသမီးကလေး မေရီ၏စိတ်၌ ကိုယ်ရေးကိုယ် တာများကို မစဉ်းစားနိုင် တော့ဘဲ ခမည်းတော်ကြီးနှင့် မောင်တော် မင်းသားကလေး အင်ဒရေတို့ကဲ့သို့ ဇာတိသွေး ဇာတိမာန်များသည် တဖွားဖွား ပေါ်ပေါက်လာကြလေ သည်။ မိမိ အတွက်မူကား စိုးစဉ်းမျှပူပန်ခြင်း မဖြစ်မိချေ။ မိမိမှာ မည်သည့်နေရာမှာပင် နေရ နေရ၊ မည်သည့်အဖြစ် မျိုးကြုံကြုံ အရေးမကြီး။ သို့ရာတွင် မိမိသည် ကွယ်လွန်သူ မင်းသားကြီး ဘိုလကွန်စကီနှင့် မောင်တော် မင်းသား ကလေးအင်ဒရေတို့၏သွေး မဟုတ်လော။ ခမည်းတော်ကြီး နှင့် မောင်တော်တို့၏ ဂုဏ်သိက္ခာကို ကာကွယ် ထိန်းသိမ်း ရမည် မဟုတ်ပါလော။ မိမိသည် ခမည်းတော်ကြီးနှင့် မောင်တော်တို့ကို ကိုယ်စားပြုရမည် မဟုတ်ပါလော။ မင်း သမီးကလေး မေရီသည် ၎င်းတို့၏အတွေး များကို တွေးမိ လျက်သားဖြစ်ကာ ၎င်းတို့၏ခံစားချက်များကို ခံစားမိ လျက်သား

ဖြစ်နေသည်။ ဤနေရာ၌ ခမည်းတော်ကြီးနှင့်  မောင်တော်တို့သာရှိခဲ့လျှင် မည်သို့ ပြုကြမည်နည်း။ ၎င်းတို့ ကဲ့သို့ပင် သူ့ကျွန်မခံလိုသောစိတ်၊ အမျိုးဂုဏ်ကို ထိန်းသိမ်း သောစိတ်တို့ကို မွေးမြူရမည် မဟုတ်ပါလော။ မင်းသမီး ကလေးမေရီ သည် မင်းသားကလေး အင်ဒရေ၏ စာကြည့် ဆောင်ထဲသို့ ဝင်လာခဲ့ပြီးနောက် ဤနေရာ၌သာ မင်းသား ကလေးအင်ဒရေရှိခဲ့လျှင် မည်သို့ ပြုမူမည်နည်းဟု စဉ်းစား ကာ မိမိလက်ရှိ တွေ့ကြုံနေရသည့် အခြေအနေများကို သုံးသပ်လျက် ရှိ လေသည်။

မင်းသမီးကလေး မေရီအဖို့၌ ခမည်းတော်ကြီး ကံတော်ကုန်သည့်အချိန်က စ၍ လောကီကိစ္စများတွင် စိတ် ဝင်စားမှုတို့ ပျောက်ကွယ်ခဲ့ပြီဖြစ်၏။ သို့ရာတွင် ယခုကဲ့ သို့ အန္တရာယ်ကို ရင်ဆိုင်တွေ့နေရသည့်အချိန်၌ကား ထို ကိစ္စများသည် ယခင်ကထက် ကြီးမားသောစွမ်းအားဖြင့် ပေါ်လာကြပြန်လေသည်။

မင်းသမီးကလေး မေရီသည် စိတ်ဂနာမငြိမ်ဖြစ် လျက်ရှိသဖြင့် စာကြည့် ဆောင်ထဲတွင် ခေါက်တုံ့ခေါက် ပြန်လျှောက်နေရင်း ဗိသုကာ မိုက်ကယ်ကို လည်းကောင်း၊ ကျွန်ယုံကြီးတီကွန်ကို လည်းကောင်း၊ ရွာလူကြီးဒရွန်ကို လည်းကောင်း တစ်ယောက်ပြီးတစ်ယောက် အခေါ်လွှတ် လျက်ရှိ၏။ ဒွန်ယာရှာ နှင့်တကွ အထိန်းတော်သည်လည်း ကောင်း၊ အခြားအစေတော်မိန်းမများသည် လည်းကောင်း၊ ပြင်သစ်သူဘူရင်း၏ပြောဆိုချက် မှန် မမှန်ကို မည်သူမျှ ရေရေရာ ရာ မသိကြဘဲ ယောင်ဝါးဝါးဖြစ်နေကြသည်။ ထိုအချိန်က အယ်ပါတစ်မှာ ရဲ အာဏာပိုင်များထံ သွား ရောက်လျက်ရှိသဖြင့် စံအိမ်တွင် မရှိချေ။ ဗိသုကာ မိုက် ကယ်သည် အိပ်မှုန်စုံမွှားဖြင့် ရောက်လာ၏။ သို့ရာတွင် ၎င်းသည်လည်း အခြေအနေမှန်ကို သေချာစွာ မဖြေနိုင် ချေ။ ဗိသုကာ မိုက်ကယ်သည် လွန်ခဲ့သည် ဆယ့်ငါးနှစ်မှ စ၍ မင်းသားကြီးဘိုလကွန်စကီက တစ်စုံတစ်ရာ ပြောဆို လျှင်

မိမိ၏ထင်မြင်ချက်ကို ထုတ်ဖော်ပြောဆိုခြင်းမရှိဘဲ ပါးစပ်ကြီး၍ ပြုံးကာ တအင်းအင်းလိုက်တတ်သည့် အကျင့်ကို ရခဲ့ပြီးဖြစ်ရာ ယခု မင်းသမီးကလေး မေရီက မေးမြန်းစုံစမ်းသည့်အခါ၌လည်း ပါးစပ်ကြီးဖြဲကာ ယောင် ဝါးဝါးပြောလျက်ရှိသဖြင့် ၎င်း၏စကားကို အားကိုး၍ မရချေ။ ကျွန်ယုံတော်ကြီးတီကွန်မှာကား ပိန်ချုံး ညှိုးလျော် သောမျက်နှာတွင် သောကအရိပ်အယောင်တို့ တံဆိပ်ရိုက် နှိပ်ထားသကဲ့သို့ ထင်လျက်ရှိရာက မင်းသမီးကလေး မေရီ မေးမြန်းသမျှကို “ မှန်ပါ ထိပ်ထားလေး” ဟုသာ ဖော်ရ၍ မင်းသမီးကလေး မေရီကိုကြည့်ရင်း တအီအီငို လျက်ရှိခြင်း ကြောင့် ၎င်းထံမှလည်း မည်သည့်အရာကိုမျှ သေချာစွာ စုံစမ်းမရနိုင်ပြန်ချေ။

နောက်ဆုံးတွင် ရွာလူကြီး ဒရွန်ရောက်လာလေ သည်။ ဒရွန်သည် မင်းသမီးကလေးမေရီအား ခါးတစ်ဝက် ချိုး၍ ဦးညွှတ်ကာ တံခါးဝတွင် ရပ်လျက်ရှိ၏။

မင်းသမီးကလေးမေရီသည် စာကြည့်ဆောင်ထဲ တွင် လမ်းလျှောက်နေရာမှ ဒရွန်ရှေ့၌ ရပ်လိုက်သည်။

“ဒရွန်”

မင်းသမီးကလေး မေရီသည် ဒရွန်ကို မိတ်ဆွေ ရင်းချာတစ်ဦးအဖြစ် သဘောထား၏။ ဒရွန်သည် နှစ်စဉ် ဗျာဇမာပွဲဈေးသို့ သွားတိုင်း ချင်းမုန့်များဝယ်လာကာ မင်းသမီးကလေး မေရီကို လက်ဆောင်ပေးလေ့ ရှိလေ သည်။

“ဒရွန် ထိပ်ထားတို့တစ်တွေ သိပ်ကံဆိုးတယ်နော်၊ . ထိပ်ထားတို့” မင်းသမီးကလေး မေရီက ပြောလိုက်သည်။ သို့ရာတွင် ရှေ့ဆက်မပြောနိုင်ဘဲ ရပ်ထားလိုက်သည်။

“ကျွန်တော်မျိုးလဲ မကယ်နိုင်တော့ဘူး ထိပ်ထား လေး၊ ဘုရားသခင် အလို တော်ကျ ဖြစ်ရတာပဲလို့သာ ဖြေပါတော့” ဒရွန်က သက်ပြင်းချ၍ ပြောလိုက်သည်။

၎င်းတို့နှစ်ဦးသည် အတန်ကြာမျှ တိတ်ဆိတ်လျက် ရှိကြ၏။

“ဒရွန်၊ အယ်ပါတစ်လဲ အခြားကို ကိစ္စတစ်ခုနဲ့ သွားနေရတယ် ဒရွန်၊ ထိပ်ထားမှာ တိုင်ပင်ရမယ့်လူဆို လို့ ဘယ်သူမှ မရှိတော့ဘူး၊ ထိပ်ထားလေး ပြောင်းဖို့ ရွှေ့ဖို့မလွယ်တော့ဘူးလို့ ပြောနေကြတယ်၊ အဲဒါ ဟုတ် သလား ဒရွန်”

“ဘာဖြစ်လို့ မလွယ်ရမှာလဲ ထိပ်ထားလေး၊ ပြောင်းနိုင်ပါသေးတယ်”

“ကြားရတဲ့သတင်းတွေ မလှဘူး ဒရွန်၊ ရန်သူ တပ်တွေကြောင့် အပြောင်းအရွှေ့လုပ်ရင် အန္တရာယ်များ တယ်လို့ ကြားရတယ်၊ ထိပ်ထားလေး ဘာမှ နားမလည် ဘူးဒရွန်၊ ထိပ်ထား ဘာမှ မလုပ်တတ်တော့ဘူး၊ ထိပ်ထား အပါးမှာလဲ ဘယ်သူမှ မရှိတော့ဘူး၊ ထိပ်ထား ဒီနေ့ ည ဖြစ်ဖြစ် မနက်စောစော ဖြစ်ဖြစ် ထွက်ချင်တယ်၊ ဘယ့် နှယ်လဲ ဒရွန်”

ဒရွန်သည် ခေတ္တမျှ တွေနေသည်။ ထို့နောက် မင်းသမီးကလေး မေရီကို ကြည့်လိုက်ပြီး

”မြင်းတွေ မရှိတော့ဘူး ထိပ်ထားလေး၊ အယ်ပါ တစ်ကို ပြောလိုက်ပြီးပါပြီ”

“မြင်းတွေ ဘယ်ရောက်ကုန်လို့လဲ” မင်းသမီး ကလေး မေရီက မေးလိုက် သည်။

“ဘုရားသခင်က ဒဏ်ခတ်တော်မူတာပဲ ထိပ်ထား လေး၊ ရှိသမျှ မြင်းတွေ အကုန် စစ်တပ်က ချောဆွဲသွားပါ တယ်၊ ကျန်တဲ့မြင်းတွေလဲ သေကုန်ပါပြီ၊ ဒီနှစ် များ တော့ မပြောပါနဲ့တော့ ထိပ်ထားလေးရယ်၊ မြင်းတွေ မြင်းစာကျွေးဖို့ မပြောနဲ့ လူတောင်မှ မငတ်ရုံတမယ်ပဲ ကျန်တော့တယ်၊ တချို့များဆိုရင် ဘာမှ မစားရတာ

သုံး လေးရက်လောက်ရှိပြီ၊ ကျွန်တော်မျိုးတို့လဲ သရောခိုင်းပြီ ထိပ်ထားလေး၊ အားလုံး ဒုက္ခရောက်ကုန်ကြပြီ”

မင်းသမီးကလေး မေရီသည် ဒရွန်၏စကားကို သေချာစွာနားထောင်လျက်ရှိသည်။

“လယ်သမားတွေအားလုံးပဲ ငတ်ပြတ်ကုန်ကြ ပလား၊ ဝမ်းစာလေး ဘာလေးမှ မကျန်တော့ဘူးလား”

“မကျန်တော့ဘူး ထိပ်ထားလေး၊ တချို့လဲ ငတ် လို့ သေကုန်ကြပြီ၊ လှည်းတိုက်စားဖို့ဆိုတာတော့ မပြော နဲ့တော့”

“ဒီအကြောင်းကို စောစောက ဘာဖြစ်လို့ မပြော သလဲ ဒရွန်၊ တကယ်ဆို ထိပ်ထားလေး တတ်နိုင် သလောက် မကူညီရပါလား”

ယခုကဲ့သို့ ဒုက္ခသုက္ခရောက်နေချိန်၌ ချမ်းသာသူ နှင့် ဆင်းရဲသူဟူ၍ ခွဲခြားစရာအကြောင်းမရှိတော့ဟု မင်းသမီးကလေး မေရီ ထင်သည်။ ပစ္စည်းဥစ္စာတွေစား မကုန်သောက်မကုန်ရှိနေ၍လည်း ဘာမျှ အကျိုးမထူး တော့။ မရှိဆင်းရဲသူကို ဝေငှပေးလိုက်ခြင်းက ကောင်းသေး သည်ဟု ယူဆမိသည်။ သရောခိုင်းသည့်အခါများတွင် မြေရှင့်၏ကောက်ပဲသီးနှံတို့ကို လယ်သမားများအား ဝေငှ ပေးရိုးထုံးစံရှိသည်ဟု မင်းသမီးကလေး မေရီ ကြားဖူး၏။ တကယ်အရေးကြုံလာက ခမည်းတော်ကြီးသည် လည်း ကောင်း၊ မောင်တော်မင်းသားကလေးအင်ဒရေသည်လည်း ကောင်း ဤမရှိဆင်းရဲသားများကို ကူညီစောင်မကြမည် သာ ဖြစ်၏။ သို့ရာတွင် လယ်သမားများအား မည်သို့ ခွဲဝေပေးရမည်ကို မစဉ်းစားတတ်အောင်ဖြစ်လျက်ရှိလေ သည်။ မင်းသမီးကလေး မေရီသည် မိမိသောကများကို မေ့ပျောက်ထားလျက် ဤပြဿနာများကို စဉ်းစားခွင့် ကြုံလာရသည့်အတွက် ဝမ်းသာလျက်ရှိ

လေသည်။ ထို့ ကြောင့် လယ်သမားများအတွက် ဝမ်းစာ မည်မျှလိုကြောင်း နှင့် ဘို ဂူချာရိုဗိုတွင် မိမိတို့ပိုင်ကောက်နှံများ သိုလှောင်ပြီး ရှိ မရှိကို ဒရွန်အား မေးမြန်း စုံစမ်းခြင်း ပြုလေသည်။

"အင်ဒရေပိုင်တဲ့ ကောက်နှံတွေရှိတယ် မဟုတ် လား"

"မှန်ပါ ကိုယ်တော်ကလေးရဲ့ ကောက်နှံတွေ တော့ ရှိပါတယ်၊ ဒါပေမဲ့ ကိုယ်တော်ကလေးက ဒီကောက်နှံ တွေကို ရောင်းရမယ်လို့ အမိန့်ပေးမထားပါဘူး ထိပ်ထား လေး"

"ကိစ္စမရှိဘူး ဒရွန်၊ မောင်တော်လေးရဲ့ ကိုယ်စား ထိပ်ထားပေးမယ်၊ အဲဒီ ဝမ်းစာစပါးတွေကို လယ်သမား တွေ ခွဲဝေပေးလိုက်၊ လိုသလောက် ထုတ်ပေး"

ဒရွန်သည် မည်သို့မျှ မပြောဘဲ သက်ပြင်းကို ချ လိုက်၏။

"ဝမ်းစာစပါးတွေကို ဝေသာပစ်လိုက်၊ အကုန် သာဝေ၊ တစ်စေ့မှ ချန်မထား နဲ့၊ မောင်တော်လေးကိုယ် စား ထိပ်ထား အမိန့်ပေးတယ်၊ ထိပ်ထားတို့မှာရှိတဲ့ ပစ္စည်း ကို သူတို့ပစ္စည်းလို့ပဲ အောက်မေ့ပါလို့လဲ ပြောလိုက်၊ ထိပ်ထားတို့ ဘာမှ နှမြောစရာ မရှိဘူး၊ အဲဒါကို လယ် သမားတွေ နားလည်အောင် ပြောလိုက်ပါ" ။

မင်းသမီးကလေး မေရီက ပြောလျက်ရှိစဉ် ဒရွန် သည် မင်းသမီးကလေး မေရီကို စိုက်ကြည့်လျက်ရှိ၏။

"ထိပ်ထားလေး ကျွန်တော်မျိုးကို ဒီအလုပ်မှာ မထားပါနဲ့တော့ ထုတ်သာ ပစ်လိုက်ပါတော့၊ ကျွန်တော် မျိုးဆီက သော့တွေကိုလဲ အသိမ်းသာ ခိုင်းလိုက်ပါ တော့၊ ကျွန်တော်မျိုး အမှုထမ်းလာတာ နှစ်ဆယ့်သုံးနှစ် ရှိပါပြီ၊ ဘာမှ အပြစ်အနာ အဆာ မရှိခဲ့ပါဘူး၊ ဒါပေမဲ့ ကျွန်တော် မျိုးကို မထားပါနဲ့တော့ ထိပ်ထားလေး၊ ထုတ်သာပစ် လိုက်ပါတော့"

မင်းသမီးကလေး မေရီသည် အဘယ်ကြောင့် ဒရွှန် က အလုပ်မှထုတ်ရန် တောင်းဆိုနေသည်ကို နားမလည် နိုင်အောင် ဖြစ်နေသည်။ မိမိထံမှ မည်သည့် အရာကိုလို၍ ဤစကားမျိုးကို ပြောလေသနည်းဟုလည်း စဉ်းစား၍ မရချေ။ မင်းသမီးကလေး မေရီက မိမိသည် ဒရွှန်၏သစ္စာ စောင့်သိရိုသေခြင်းကို မည်သည့် အခါကမျှ သံသယ မရှိ ခဲ့ကြောင်း၊ ဒရွှန်နှင့်တကွ လယ်သမားများ၏အလိုဆန္ဒ အတိုင်း ဆောင်ရွက်ရန် အသင့်ဖြစ်ကြောင်းဖြင့် ပြောဆို ခြင်း ပြုလေသည်။

# အခန်း ၁၁

တစ်နာရီခန့်ကြာသောအခါ အစေတော်ဒွန်ယာရှာ ရောက် လာကာ ကျေးရွာ လူကြီးဒရွှန်နှင့်တကွ လယ်သမားများ စပါးစည့်အနီးတွင် ရောက်ရှိနေကြကြောင်း၊ ၎င်းတို့က ထိပ်ထားလေး၏အမိန့်အရ စုရုံးခြင်းဖြစ်၍ ထိပ်ထားလေး နှင့် တွေ့ဆုံ စကားပြောလိုကြောင်းဖြင့် လာရောက်ပြော ကြားလေသည်။

"အလို သူတို့ကို လာပါလို့ ထိပ်ထားက မပြော ရပါကလား၊ ဝမ်းစာမရှိရင် စည့်ထဲက ကောက်နှံတွေကို ထုတ်ပေးလိုက်လို့သာ ဒရွှန်ကို ပြောလိုက်တာပါ" မင်းသမီး ကလေး မေရီက ပြောလိုက်၏။

"ထိပ်ထားလေး သွားမတွေ့ပါနဲ့ဖျော့၊ သူတို့ကို နှင်ထုတ်လိုက်ပါ့ဖျော့၊ သူတို့ ထိပ်ထားလေးကို အကောက် ကြံကြပြီ ထင်တယ်ဖျော့၊ အယ်ပါတစ်ပြန်လာရင် ဖျားကျွန်မ တို့လဲ ပြောင်းကြစို့ဖျာ"

"သူတို့က ထိပ်ထားလေးကို ဘယ်လိုအကောက် ကြံကြမှာတဲ့လဲ ဒွန်ယာ ရှာ" မင်းသမီးကလေး မေရီက အံ့အားသင့်လျက်မေးလိုက်၏။

“ဘယ်လိုအကောက်ကြံမယ်ဆိုတာတော့ ဖျာ ကျွန်မလဲ မပြောတတ်ဘူးဖျာ၊ ဒါပေမဲ့ သူတို့ဆီကို မသွားပါနဲ့ဖျော့၊ ဖျာကျွန်မကြားသလောက်တော့ သူတို့ ထိပ်ထားလေးအမိန့်ကို ဖီဆန်ကြမလို့တဲ့ဖျော့၊ ဘိုဂူချာရိုဗို က မပြောင်းဘူးလို့ ပြောနေကြတယ်ဖျာ”

“ဒွန်ယာရှာ နားကြားလွဲနေတာ ဖြစ်ပါလိမ့်မယ် ကွယ်၊ သူတို့ကို ဘိုဂူချာရိုဗို က ပြောင်းရမယ်လို့ ထိပ်ထား ကလဲ မပြောရပါလား၊ ကဲကဲ ဒီလောက်လဲ အထိတ်ထိတ်  အပျော့ပျော့ ဖြစ်မနေပါနဲ့၊ ဒရွှန်ကို ခေါ်ချေစမ်းပါဦး” - ဒရွှန်ရောက်လာကာ ဒွန်ယာရှာပြောသည့်အတိုင်း ဟုတ်မှန်ကြောင်းဖြင့် ပြောဆိုပြန်သည်။ ထိပ်ထား လေး၏ အမိန့်အရ လာရောက်စုဝေးခြင်း ဖြစ်သည်ဟုလည်း ဒရွှန် က ပြောသပ် ထားက သူတို့က ထိပ်ထား

”ထိပ်ထားက သူတို့ကို ခေါ်လာခဲ့ရမယ်လို့ ဘယ် တုန်းကများ ပြောဖူးလို့လဲ ဒရွှန်၊ ထိပ်ထားပြောတာက တလွဲ၊ လုပ်တာကတလွဲ ဖြစ်ကုန်ပြီထင်တယ်၊ ထိပ်ထား ပြောတာက သူတို့မှာ ဝမ်းစာမရှိရင် စည့်ထဲကကောက်နဲ့ တွေထုတ်ပြီး ဝေလိုက်ပါလို့ ပြောတာမဟုတ်လား”

ဒရွှန်သည် မည်သို့မျှမပြောဘဲ သက်ပြင်းကြီးကို ရှိုက်လိုက်သည်။

“ထိပ်ထားလေးကိုယ်တိုင် ဆင်းပြောမှ သူတို့ လူစုကွဲကြလိမ့်မယ်ထင်ပါ တယ်၊ ကျွန်တော်မျိုး ပြောလို့ တော့ နားထောင်ကြမှာ မဟုတ်ဘူး”

“ကဲ လာ လာ” မင်းသမီးကလေး မေရီသည် ဒွန်ယာရှာနှင့် အထိန်းတော်တို့ တားသည့်ကြားထဲက စမုတ် ဆောင်ဝသို့ ထွက်လာခဲ့သည်။ ဒရွှန်၊ ဒွန်ယာရှာ၊ အထိန်း တော်နှင့် ဗိသုကာမိုက်ကယ်တို့သည် နောက်က လိုက်လာ ကြ၏။

“လက်စသတ်တော့ ငါက ထွက်ပြေးပြီး သူတို့ကို အစောင့်ခိုင်းချင်လို့ ကောက်နှံတွေပေး မျက်နှာချိုသွေး တယ်လို့ သင်းတို့ ထင်နေကြပုံရတယ်၊ ငါ့ စိတ်ကူးကတော့ သူတို့လဲပြောင်းရင် သူတို့ကို မော်စကိုပိုင်စားနယ်ထဲမှာ နေရာချ ပေးပြီး လစဉ်ထောက်ပံ့မယ်လို့ စိတ်ကူးထားတာ၊ အင်ဒရေသာဆိုရင် သည့်ထက် မကထောက်ပံ့နိုင်ပေမယ့် ငါကတော့ မိန်းမသားဆိုတော့ ဒီလောက်ပဲ ထောက်ပံ့ နိုင်တာ၊ ဒါကို ကျေနပ်ကြပုံ မရဘူး”

မင်းသမီးကလေး မေရီသည် ဤသို့တွေးတော လျက် ဆည်းဆာမှုန်မှုန်၌ စပါးစည့်ရှေ့မြက်ခင်းပြင်တွင် စုဝေးနေကြသော လယ်သမားများထံသို့ လျှောက် လာခဲ့ သည်။

မင်းသမီးကလေး မေရီကို မြင်သည်တွင် လယ် သမားများသည် လှုပ်လှုပ်ရွရွဖြစ်သွားကာ ပုးကပ်ထိုင် လိုက်ကြပြီးနောက် ဦးထုပ်များကို ချွတ် လိုက်ကြသည်။ မင်းသမီး မေရီသည် ဝတ်စုံကို စွန်တောင်ဆွဲကာ ခေါင်း ငိုက်စိုက် ချ၍ လျှောက်လာခဲ့သည်။ မျက်လုံးအစုံပေါင်း များစွာတို့သည် မင်းသမီးကလေး မေရီကို စူးစိုက်ကြည့် လျက် ရှိကြ၏။ မျက်နှာမျိုးစုံတို့ ရောထွေးလျက်ရှိသည် ဖြစ်၍ မင်းသမီးကလေးမေရီမှာ မည်သည့်မျက်နှာကိုမျှ မှတ်မိခြင်းမရှိဘဲ ဟောဟောဒိုင်းဒိုင်း ပြောလိုစိတ်များသာ ပေါ်ပေါက်လာကြသည်။ မည်သည့်နေရာ ကစ၍ ပြောရ မည်ဟူ၍ကား မသိချေ။ သို့ရာတွင် မိမိသည် ခမည်းတော် ကြီးနှင့် မောင်တော်မင်းသားကလေးအင်ဒရေတို့ကို ကိုယ် စားပြုနေခြင်း ဖြစ်သည်ဟု နှလုံးသွင်းလိုက်သည်နှင့် ခွန် အားသတ္တိတို့သည် ဆတက်ထမ်းပိုးတိုးလာသည်ဟု ထင် မှတ်ရလေသည်။ ဤသို့ဖြင့် မင်းသမီးကလေးမေရီသည် တွန့်ဆုတ်ခြင်းမရှိ စကားစ၍ပြောခြင်း ပြုလေသည်။

"ခုလိုလာရောက်စုဝေးကြတဲ့အတွက် ထိပ်ထား အများကြီးကျေးဇူးတင်ပါတယ်၊ ဝမ်းလဲ သာပါတယ်" မင်းသမီးကလေးမေရီက မျက်လွှာကို ချထားရင်း ပြော လိုက်၏။ ၎င်း၏နှလုံးသည် တဆတ်ဆတ်ခုန်လျက်ရှိ၏။ "ရှင်တို့လယ်သမားတွေဟာ ဒီစစ်ကြီးကြောင့် ဒုက္ခအကြီး အကျယ် တွေ့နေကြရတယ်လို့ ရှင်တို့ရွာလူကြီး ဒရွန်ထံက ကြားသိရပါတယ်၊ ဒါကတော့ ထိပ်ထားတို့အားလုံးရဲ့ ကံကြမ္မာပါပဲ။ ဒီတော့ ရှင်တို့တစ်တွေကို ထိပ်ထား အတတ် နိုင်ဆုံး ကူညီလိုပါတယ်၊ ဒီနေရာဟာ ရန်သူစစ်ကြောင်း နဲ့ နီးလို့ အန္တ ရာယ်များလှတဲ့အတွက် ထိပ်ထားကိုယ်တိုင် လဲ တခြားကို ပြောင်းတော့မယ်၊ ရန်သူဟာ တဖြည်းဖြည်း နီးလာပြီ၊ ဒီတော့ ထိပ်ထားတို့ပိုင်တဲ့ ပစ္စည်းတွေအားလုံးကို ရှင်တို့ကို ပေးခဲ့ချင်ပါတယ်။ ဒါကြောင့်မို့ ထိပ်ထားတို့ ပိုင်တဲ့ကောက်နှံတွေကို ရှင်တို့ အကုန်ယူကြပါလို့ ထိပ်ထား ပြောချင်ပါတယ်၊ အကယ်၍ ထိပ်ထားက ဒီလို ကောက်ပဲ သီးနှံတွေကို ဝေငှပေးတာဟာ ထိပ်ထားတို့ပိုင်စားနယ်မြေ ကို စောင့်ပေးစေချင်လို့ မျက်နှာချိုနဲ့ လာဘ်ထိုးတယ်လို့များ ကြားရရင် ဒီစကားကို လက်မခံကြပါနဲ့၊ မဟုတ်ပါဘူး၊ ရှင်တို့ကိုလဲ ရန်သူ့နယ်မြေထဲမှာ မနေရစ်စေချင်ပါဘူး၊ ရှင်တို့အားလုံး မော်စကိုနားမှာရှိတဲ့ ထိပ်ထားတို့ပိုင်စား နယ်မြေထဲကို ပြောင်းရွှေ့ နေထိုင်ကြပါလို့ ထိပ်ထား ပြောလို ပါတယ်၊ အဲဒီမှာဆိုရင် ထိပ်ထားကိုယ်တိုင်လဲ မကြာခဏ လာရောက်ကြည့်ရှုနိုင်ပြီး လိုအပ်တဲ့ အကူအညီများကို ပေးနိုင်ပါလိမ့်မယ်၊ အဲဒီရောက်ရင် အစားအသောက်နဲ့ နေရာထိုင်ခင်း အားလုံး စီစဉ်ပေးပါ့မယ်"

မင်းသမီးကလေး မေရီက စကားကို ရပ်လိုက်၏။ လူအုပ်ထဲမှ သက်ပြင်းချသံများကို ကြားရသည်။

"ခု ဒီစကားကို ရှင်တို့ကို ပြောနေခြင်းဟာလဲ ထိပ်ထားတစ်ယောက်တည်း အနေနဲ့ ပြောနေခြင်းမဟုတ်ပါ ဘူး၊ ရှင်တို့ရဲ့ သခင်ကြီးဖြစ်တဲ့ ကွယ်လွန်သူ

ခမည်းတော် ကြီးနဲ့ ခမည်းတော်ကြီးရဲ့ သားတော် ထိပ်ထားရဲ့ မောင် တော် အင်ဒ ရေတို့ရဲ့ ကိုယ်စား ပြောနေခြင်း ဖြစ်ပါတယ်”

မင်းသမီးကလေး မေရီသည် ရပ်သွားပြန်သည်။ လူအုပ်ကြီးမှာလည်း တိတ်ဆိတ်နေသည်။

“ထိပ်ထားတို့ အားလုံးဟာ ဒုက္ခကို ညီတူညီမျှ ရင်ဆိုင်နေရခြင်း ဖြစ်ပါ တယ်၊ ဒါကြောင့် ဒီဒုက္ခတွေကို စုပေါင်း ရင်ဆိုင်ကြရပါလိမ့်မယ်၊ ထိပ်ထားရဲ့ ပစ္စည်းဥစ္စာ တွေဟာ ရှင်တို့ရဲ့ ပစ္စည်းဥစ္စာတွေပါပဲ၊ ဒီအချိန်မှာ ခွဲခြား နေကြဖို့ အချိန်မဟုတ်တော့ပါဘူး”

မင်းသမီးကလေး မေရီသည် လယ်သမားများ၏ မျက်နှာများကို လှမ်း၍ကြည့်လိုက်၏။ ၎င်းတို့ မျက်နှာ ထားအားလုံးသည် အမူအရာတစ်ခုတည်း ကို ဖော်ပြလျက် ရှိကြ၏။ သို့ရာတွင် ထိုအမူအရာသည် အံ့သြခြင်းလော၊ ချစ်ကြောက်ရိုသေခြင်းလော၊ ကျေးဇူးတင်ခြင်း လော၊ လက်ခံခြင်းလော၊ မ ယုံကြည်ခြင်းလော ဆိုသည်ကိုမူ မင်းသမီးကလေး မေရီ ခွဲခြား၍မရချေ။

“ခုလို သဒ္ဓါတရားထက်သန်တဲ့အတွက် ကျေးဇူး တင်ပါတယ် ထိပ်ထား လေး၊ ဒါပေမဲ့ ကိုယ့်သခင်ရဲ့ ပစ္စည်းကို ယူဖို့မသင့်ပေဘူးခင်ဗျ” လူအုပ်နောက်နား ဆီမှ အသံတစ်သံထွက်လာလေ၏။

“ဘာဖြစ်လို့” မင်းသမီးကလေး မေရီက မေးလိုက် သည်။

မည်သူကမျှ ပြန်မဖြေကြ။ မင်းသမီးကလေး မေရီ သည် လယ်သမားများကို လှမ်းကြည့်လိုက်သည်။ မျက်လုံး ချင်းဆိုင်လိုက်မိတိုင်း လယ်သမားများသည် မျက်လွှာကို ချထားလိုက်ကြ၏။

“ဆိုစမ်းပါဦး ဘာဖြစ်လို့ မယူသင့်တာလဲ” မင်းသမီးကလေး မေရီက ထပ်မေးပြန်သည်။ မည်သူကမျှ မဖြေကြ။

“တိတ်ဆိတ်လျက်ရှိသောကြောင့် မင်းသမီးကလေး မေရီသည် အနေရခက်လာသည်။ ထို့ကြောင့် လယ်သမား များဘက်ကို လှမ်းကြည့်လိုက်ပြန်သည်။

“ပြောပါလေ ဘာဖြစ်လို့ မပြောကြတာလဲ” မင်းသမီးကလေး မေရီသည် မိမိအနီးတွင် တောင်ဝှေး ထောက်၍ရပ်နေသည့် လယ်သမားအဘိုးအိုကြီးကို လှမ်းမေးလိုက်သည်။ “နောက်ထပ် လိုချင်ကြသေးသလား၊ လိုချင်တာရှိသေးရင် ပြောကြပါ၊ ထိပ်ထား ပေးပါ့မယ်”

မင်းသမီးကလေးမေရီသည် ဤသို့ပြောကာ လယ် သမားကြီး၏မျက်နှာကို လှမ်းကြည့်လိုက်၏။

လယ်သမားအဘိုးကြီးသည် ဤစကားကြောင့် ဒေါသထွက်သွားသည့်ပမာ ခေါင်းကိုငုံ့လိုက်ပြီးနောက်

”ကျုပ်တို့တော့ မကြိုက်ဘူးဗျ၊ သူတစ်ပါးပစ္စည်း လဲ မလိုချင်ဘူး”

“ဟုတ်တယ် မလိုချင်ဘူး၊ မလိုက်နိုင်ဘူး၊ မပြောင်းဘူး၊ ကျုပ်တို့ ဒီနေရာက မရွှေ့နိုင်ဘူး၊ သွား ချင်ရင် ထိပ်ထားလေးဘာသာ သွားပါ၊ ကျုပ်တို့ မလိုက် ချင်ဘူး” လူအုပ်ထဲမှ အော်သံများကို ကြားရ၏။

လူအားလုံး၏မျက်နှာများသည် တစ်ခုတည်းသော အမူအရာကို ဖော်ပြလျက် ရှိကြပြန်သည်။ ထိုအမူအရာ သည် မည်သို့သောအမူအရာဖြစ်သည်ကို ခပ်စောစောက မင်းသမီးကလေး မေရီ ဝေခွဲ၍မရခဲ့သော်လည်း ယခုမူ မင်းသမီးကလေး မေရီ ကောင်းကောင်းသိခဲ့လေပြီ။ ထို အမူအရာကား အံ့သြခြင်းလည်း

မဟုတ်။ ကျေးဇူးတင် ခြင်းလည်း မဟုတ်ဘဲ သူပြောတိုင်းလုပ်နိုင်ရိုးလားဟူသော သဘောကိုဆောင်သည့် အာခံသောအမူအရာသာ ဖြစ် လေသည်။

“သော် လက်စသတ်တော့ ရှင်တို့ ထိပ်ထားရဲ့ စေတနာကို အထင်လွဲကြတာကိုး” မင်းသမီးကလေးမေရီ သည် ဝမ်းနည်းစွာပြုံး၍ ပြောလိုက်သည်။ “ဘာဖြစ်လို့ ဒီနေရာက မပြောင်းချင်ကြတာလဲ ဟင်၊ ဟိုမှာ အစား အသောက်နဲ့တကွ နေရာထိုင်ခင်း ကောင်းကောင်း ရနိုင် တယ်၊ ဒီမှာနေရစ်ခဲ့ကြရင် ရှင်တို့ကို ရန်သူတွေက နှိပ်စက် ကြမှာပေါ့”

သို့ရာတွင် မင်းသမီးကလေး မေရီ၏အသံမှာ ဝိုင်း ၍အော်ကြသောလူအုပ်ကြီး၏အသံထဲတွင် ပျောက်ကွယ် သွား၏။

”အို မလိုချင်ဘူး၊ မလိုက်ချင်ဘူး၊ နှိပ်စက်ချင်လဲ နှိပ်စက်ပစေ၊ မလိုချင်ဘူး၊ ခင်ဗျားပေးတဲ့ ဝမ်းစာလဲ မလိုချင်ဘူး”

မင်းသမီးကလေး မေရီသည် လယ်သမားများ၏ မျက်နှာများကို လိုက်၍ကြည့်ပြန်သည်။ သို့ရာတွင် ၎င်းတို့ အားလုံးသည် မင်းသမီးကလေးမေရီက ကြည့်လိုက်တိုင်း မျက်နှာကို လွှဲသွားကြ၏။ မျက်နှာချင်းဆိုင်လိုစိတ်ပင် ရှိဟန်မတူတော့ချေ။ မင်းသမီးကလေး မေရီသည် လယ် သမားများ၏စိတ်ဓာတ်နှင့် အပြုအမူကို နားမလည် အောင် ဖြစ်လျက်ရှိလေသည်။

“အင်း ပရိယာယ်ကလေးကတော့ တယ်ကောင်း ပေါ့ဗျာ၊ တယ်သေသပ်ပ၊ တို့ကို ဟိုအထိလိုက်ပြီး ကျွန်ခံ ခိုင်းဦးမလို့ခေါ်တာကွ သိရဲ့လား၊ အိုးအိမ်ပစ်ပြီး လိုက် ကျွန်ခံရမယ်ဆိုတဲ့ သဘောပေါ့ကွ၊ ဟင်း ဝမ်းစာစပါး ပေးပြီး မြူတာဟေ့၊ သိရဲ့လား” လူအုပ်ထဲမှာ ပြောဆိုနေ သံများကို ကြားရ၏။

မင်းသမီးကလေးမေရီသည် ခေါင်းကိုပင် မဖော် တော့ဘဲ အိမ်ဘက်သို့ ချာခနဲလှည့်ထွက်လာခဲ့၏။ နက်ဖြန် နံနက်စောစော ခရီးထွက်နိုင်ရန်အတွက် မြင်းများကို အဆင်သင့်ပြင်ထားရန် ဒရွန်အား မှာကြားပြီးနောက် အပေါ်ထပ်ခန်းဆောင်သို့ တက်လာခဲ့ကာ အတွေးနယ်ချဲ့ လျက် ရှိလေသတည်း။

## အခန်း ၁၂

ထိုနေ့ညဉ့်၌ မင်းသမီးကလေး မေရီသည် မိမိ၏ခန်းဆောင် ပြတင်းဝတွင် အချိန်အတော်ကြာထိုင်လျက် ရွာထဲမှ အုတ် အုတ်ကျက်ကျက် စကားပြောသံများကို နားစွင့်နေမိသည်။ ( သို့ရာတွင် မင်းသမီးကလေး မေရီသည် ထိုလယ်သမားများ အကြောင်းကို မတွေးတော့ချေ။ မိမိ၏စေတနာကို ဝေဒနာ ထင်လျက် ရှိသူများအကြောင်းကို တွေးတောနေ၍လည်း ဘာအကျိုးထူးဦးမည်နည်း။ ၎င်းတို့အကြောင်းကို မည်မျှ တွေးစေကာမူ မိမိသည် ၎င်းတို့၏စိတ်သဘောကို နား ( မလည်နိုင်တော့ပြီဟု မင်းသမီးကလေးမေရီက ယူဆလျက် ရှိလေသည်။ မင်းသမီးကလေး မေရီသည် ယခုအချိန်၌ မည်သူ့အကြောင်းကိုမျှ တွေးတောခြင်းမရှိဘဲ မိမိ၏ပူဆွေး  သောကကိုသာ တွေးတောလျက်ရှိ၏။ နေရေးထိုင်ရေးကိစ္စ အဝဝတို့ကြောင့် သောကကို မေ့ပျောက်နေခဲ့ရာက ယခုလို အထီးတည်းရှိသည့်အခါ၌ ထိုသောကသည် ခေါင်းပြူ၍ ပေါ်ထွက်လာပြန်လေသည်။

လေသည် နေဝင်ပြီးကတည်းက တိတ်လျက်ရှိ၏။ ညသည် တိတ်ဆိတ်ငြိမ်သက်လျက်ရှိကာ မွေးပျံ့လျက် ရှိလေသည်။ သန်းခေါင်အချိန်လောက်အရောက်တွင် ရွာ ထဲမှ အုတ်အုတ်ကျက်ကျက်အသံများသည် တိတ်ဆိတ် သွားကြ၏။ ကြက်ဖတစ်ကောင်သည် တောင်ပံတဖျပ် ဖျပ်ရိုက်၍ တွန်လိုက်၏။ သံပရာပင်များကြားမှ လပြည့် ဝန်းကြီးသည် တငြိမ့်ငြိမ့်ထွက်ပေါ်လာလေသည်။ နှင်းမှုန် ကလေး

များလည်း တဖွဲဖွဲကျစပြုလာလေသည်။ ရွာတစ်ရွာ လုံးနှင့် စံအိမ်ကြီးတစ်ခုလုံးမှာ တိတ်ဆိတ်ခြင်းသာလျှင် ကြီးစိုးလျက်ရှိ၏။

မင်းသမီးကလေး မေရီ၏စိတ်တွင် ခမည်းတော် ကြီး မကျန်းမမာဖြစ်ခဲ့ပုံ၊ ကံတော်ကုန်ခဲ့ပုံ စသည့် မကြာ သေးသောအတိတ်မှ ဖြစ်ရပ်များသည် တစ်ခုပြီး တစ်ခု ပေါ်လာကြ၏။ မင်းသမီးကလေး မေရီသည် ခမည်းတော် ကြီး ကံတော် ကုန်ခါနီးတွေ့မြင်ရသည့် အခြင်းအရာမှအပ အခြား အဖြစ်အပျက်များကို ပြန်၍စဉ်းစားကြည့်မိသည်။ ခမည်းတော်ကြီး ကံတော်ကုန်ခါနီးမြင်ကွင်းကိုကား ဤလို တိတ်ဆိတ်ချောက်ချားဖွယ်ကောင်းသည့် အကာလ ည အခါတွင် မတွေးရဲသဖြင့် ထိုမြင်ကွင်းပေါ်လာတိုင်း ပျောက် ဖျက်ပစ်လိုက်သည်။ ပြန်၍ တွေးလိုက်တိုင်းလည်း ထို အခြင်းအရာများသည် ယခုပင် ဖြစ်နေသလိုလို၊ အနာဂတ် တွင်ပင် ဖြစ်တော့ မယောင်ယောင်ဟု စိတ်ထဲတွင် ပိုးဝါး ထင်လာကြကာ အကွင်းလိုက် အကွင်းလိုက် ပေါ်လာကြ သည်။

မင်းသမီးကလေး မေရီသည် "တောင်ကတုံး" ၌ ခမည်းတော်ကြီး ပထမဆုံး ရောဂါ စဖောက်သည့်နေ့ကို မြင်ယောင်နေသည်။ ထိုစဉ်က အရေးပေါ်စစ်သည်စု များ သည် ခမည်းတော်ကြီးကို ပန်းခုံထဲမှ တွဲခေါ်လာခဲ့ကြ၏။ ခမည်းတော်ကြီး သည် လျှာလေးကြီးဖြင့် စကားကိုမျှ ပီပီ သသမပြောနိုင်တော့ဘဲ မိမိအား ထိတ်လန့်တုပ်လှုပ်စွာ ကြည့်နေပုံကို မြင်ယောင်လာလေသည်။

"အင်း ဆုံးခါနီး ပြောသွားတဲ့စကားတွေကို အဲဒီ နေ့ကတည်းက ပြောချင် ဟန်တူရဲ့၊ ဖေဖျားဟာ တစ်စုံ တစ်ရာပြောမယ်ကြံရင် သေသေချာချာစဉ်းစားပြီးမှ ပြော လေ့ရှိတယ်" မင်းသမီးကလေး မေရီသည် တွေးရင်း ခမည်း တော်ကြီး နောက်ဆုံးရောဂါမဖောက်ခင် တစ်ညကိုလည်း မြင်ယောင်လာပြန်သည်။ ထိုစဉ် က မင်းသမီးကလေး မေရီသည် ခမည်းတော်ကြီးက အိပ်ရန်ပြောသည်ကိုပင် အိပ်

မပျော်နိုင်ဘဲ စိတ်တထင့်ထင့်နှင့် အောက်ထပ်သို့ " ဆင်းလာကာ တံခါးဝတွင် ချောင်း၍ နားထောင်ခဲ့သည်။

ခမည်းတော်ကြီးသည် ကရိုင်းမီးယားကျွန်းဆွယ် စစ်ပွဲများ အကြောင်း၊ ရွှေနန်းရှင်မယ်တော်ဖုရားအကြောင်း၊ ကရိုင်း မီးယားကျွန်းဆွယ်မှ ပူနွေးသော ညချမ်းချိန်များအကြောင်း စသည်တို့ကို ကျွန်ယုံကြီး တီကွန်အား ပင်ပန်းနွမ်းနယ်သည့်အသံဖြင့် ပြောနေသံကို ကြားယောင်မိ၏။ “ခမည်း တော်ကြီးဟာ စကားပြောချင်ရက်သားနဲ့ ထိပ်ထားကို တော့ ဘာဖြစ်လို့များ ခေါ်ပြီး စကားမပြောသလဲ မသိဘူး နော်၊ တကယ်လို့သာ အဲဒီတုန်းက ထိပ်ထားရှိရင်လဲ ခမည်း တော်ကြီးဟာ ကံတော်ကုန်ခါနီး ပြောတဲ့စကား တွေကို ပြောမှာပဲ၊ မှတ်မိသေး တယ်၊ တီကွန်နဲ့ စကား ပြောရင်း ထိပ်ထားကလေးအကြောင်းကို နှစ်ခါတောင် မေးတယ်၊ အဲဒီတုန်းက သမီးတော်ကို တွေ့ချင်ရှာဟန် တူတယ်၊ သမီးတော် အနားမှာရောက်နေတာကို မသိရှာ ဘူး၊ အင်း ခမည်းတော်ကြီးမှာလဲ စကားပြောစရာ လူ မရှိတော့ တီကွန်နဲ့ပဲ အချိန်ကုန်ရရှာတာပဲ၊ တစ်ခါလဲ ခမည်းတော်ကြီးဟာ ချွေးမတော်လီဇာအကြောင်း၊ ချွေးမ တော်လီဇာ ဘယ်ရောက်နေသလဲဆိုတဲ့ အကြောင်း တီကွန် ကို မေးနေတယ်၊ သူ့ချွေးမတော်ဆုံးပြီဆိုတာကို သတိမေ့ နေပုံရတယ်၊ တီကွန်က ချွေးမတော် မရှိတော့ဘူးလို့ပြော တော့ တီကွန်ကိုတောင် အော်ဟစ်ကြိမ်းမောင်းနေသေး တယ်၊ ခမည်းတော်ကြီးဟာ အိပ်ရာပေါ်ကို ပင်ပန်းကြီးစွာ လှဲရင်း ဘုရား၊ ဘုရားနဲ့ တနေတာကို ကြားယောင်သေး တော့တယ်၊ ဒီတုန်းက ငါ ဘာဖြစ်လို့များ ခမည်းတော်ကြီး ရဲ့ခန်းဆောင်ထဲကို ဝင်မသွားမိပါလိမ့်၊ ငါသာ ရောက်သွား လို့ရှိရင် ခမည်းတော်ကြီး တော်တော် ကြည်ကြည်လင်လင် ဖြစ်ချင် ဖြစ်လာမှာပဲ”

. မင်းသမီးကလေး မေရီသည် တွေးတောလျက်ရှိ ရာက ကံတော်ကုန်မည့်နေ့တွင် “သမီးတော်” ဟု ကြင်နာ ယုယစွာခေါ်သွားသံကို ကြားယောင်လာပြန်

လေသည်။ မင်းသမီးကလေး မေရီသည် ထိုစကားကို ပါးစပ်မှ ထုတ် ရွတ်လိုက်ရင်း ငိုချလိုက်မိသည်။ မျက်ရည်များသည် ဝိညာဉ်ကိုပေါ့ပါးသွားစေသည်မှာ အမှန်ပင်ဖြစ်လေသည်။ ချက်ချင်းပင် ခမည်းတော်ကြီး၏မျက်နှာသည်လည်း ရှေ့ တွင်ပေါ်လာလေသည်။ သို့ရာတွင် ထိုမျက်နှာမှာ မင်း သမီးကလေး မေရီ မြင်တွေ့နေကျ မျက်နှာမျိုးမဟုတ်ဘဲ ကံတော်ကုန်ခါနီး မိမိအား "သမီးတော်" ဟု ခေါ်လိုက်စဉ် ကဖြစ်ပေါ်ခဲ့သော ကြောက်လန့်အားငယ်လျက် အတွန့် အစင်းများအထင်းသားပေါ်လျက်ရှိသောမျက်နှာ ဖြစ်လေ သည်။

"သမီးတော်" မင်းသမီးကလေး မေရီသည် ထို စကားကို ရွတ်လိုက်သည်။

"ဒီလိုခေါ်လိုက်တုန်းက ခမည်းတော်ကြီးဟာ ဘာ တွေများ တွေးနေပါလိမ့်၊ ခုကော ဘာတွေများ တွေးနေ ပါလိမ့်"ဤမေးခွန်းသည် မင်းသမီးကလေးမေရီ၏ခေါင်း ထဲသို့ ရောက်လာ၏။ ထိုမေးခွန်းကို ဖြေသည့်အနေဖြင့် ပါးစပ်တွင် ပဝါစည်းလျက် ခေါင်းထဲတွင် လှဲနေသော ခမည်းတော်၏အသုဘရုပ်သည် ရှေ့တွင်ပေါ်လာ၏။ ခမည်းတော်ကြီး၏ကိုယ်ခန္ဓာကို နောက်ဆုံးထိလိုက်စဉ် က မိမိထိထားသော ခန္ဓာကိုယ်ကြီးသည် ခမည်းတော် ကြီး၏ခန္ဓာကိုယ် မဟုတ်တော့။ မင်းသားကြီး ဘိုလကွန် စကီ၏ခန္ဓာကိုယ် မဟုတ်တော့။ ရုပ်ဆောင်နေသည့် အပုပ် ကောင်ကြီး၏ အတ္တဘောကြီးမျှသာတကားဟု ကြောက်ရွံ့ ထိတ်လန့်ခဲ့ဖူးရာ ယခု ထိုထိတ်လန့်ကြောက်ရွံ့ခြင်းမျိုး သည် မင်းသမီး မေရီ၏ရင်တွင်းသို့ ဝင်ရောက်လာပြန်လေ သည်။ မင်းသမီးကလေး မေရီသည် အာရုံပြောင်းကာ မေတ္တာပို့သည်။ အမျှအတန်းဝေသည်။ သို့ရာတွင် မရ တော့ပြီ။ မင်းသမီးကလေး မေရီသည် ပြူးကျယ်သော မျက်လုံးများဖြင့် လရောင်ခြည်များကိုလည်းကောင်း၊ အရိပ် များကိုလည်းကောင်း လှမ်း၍ကြည့်လိုက်၏။ ကြည့်လိုက် တိုင်း၊ ကြည့်လိုက်တိုင်း အသက်ကင်းမဲ့လျက် ရှိပြီးဖြစ် သော ခမည်းတော်ကြီး၏ မျက်နှာကို

သာ မြင်ယောင်လျက် ရှိကာ စံအိမ်ကြီးကို ဖုံးအုပ်လျက် ရှိသော တိတ်ဆိတ်ခြင်းသည် မိမိအား ဆုပ်ကိုင်ဖျစ်ညှစ်လျက်ရှိသည်ဟု ထင်မှတ် မိလေသည်။

”ဒွန်ယာရှာ ဒွန်ယာရှာ”

မင်းသမီးကလေး မေရီသည် စူးစူးဝါးဝါး အော် ဟစ်ကာ တိတ်ဆိတ်လျက်ရှိသော စံအိမ်ကြီးထဲမှ အစေခံ တန်းလျားထဲသို့ ပြေးဆင်းလာခဲ့၏။ အထိန်းတော်ကြီး နှင့် အစေခံများသည် မင်းသမီးကလေး မေရီထံသို့ ပြေး လာကြလေသတည်း။

# အခန်း ၁၃

ဩဂုတ်လ ၁၇ ရက်နေ့၌ နီကိုလေနှင့် ဗိုလ်ကလေးအီလျင် တို့သည် ဘိုဂူချာရိုဗိုနှင့် ဆယ်မိုင်ဝေးသော ယန်ကိုဗို တပ် စခန်းမှ မြင်းကိုယ်စီဖြင့် ထွက်လာခဲ့ကြ၏။ အီလျင်မှာ မြင်းသစ်တစ်စီးဝယ်ထားသောကြောင့် မြင်းသစ်ကို ကုန်း ကျင့်ရန်၊ ရွာထဲတွင် မြင်းစာကောက်ရိုးလည်း ရှာရန် ဟူ သောရည်ရွယ်ချက်ဖြင့် ထွက်လာခဲ့ကြခြင်းဖြစ်သည်။ ၎င်း တို့နှင့် အတူ မြင်းတပ် တပ်လုလင်တစ်ဦးဖြစ်၍ သံ့ပန်း အဖြစ်မှ ပြန်လွတ်လာသော လာဗရူရှကာလည်း လိုက်ပါ လာသည်။

လွန်ခဲ့သည့်သုံးရက်စ၍ ဘိုဂူချာရိုဗိုဒေသသည် ရန်စောင်လျက်ရှိသော စစ်တပ်ကြီးနှစ်တပ်ကြားထဲတွင် ရောက်နေခဲ့လေရာ ပြင်သစ် စစ်လျင်စစ်ဖျားအဖွဲ့ ထိုဒေသ သို့ အလွယ်တကူရောက်ရှိနိုင်သည့်နည်းတူ ရုရှားနောက် ဖျားတပ်များအဖွဲ့လည်း ထိုဒေသသို့ အလွယ်တကူ ရောက် ရှိနိုင်လေသည်။ ရုရှားနောက်ဖျားတပ်များနှင့်အတူ ကျန်ရစ် ခဲ့သောနီကိုလေသည် စေ့စပ်သေချာသော တပ်ခွဲမှူးတစ် ယောက်ပီပီ ပြင်သစ်စစ်လျင် စစ်ဖျားတပ်များက ဘိုဂူချာ ရိုဗိုမှ ရိက္ခာများကို

ဝင်ရောက်ယှဉ်ပြိုင်ခြင်း မပြုမီ မိမိတို့က ဦးအောင်သိမ်းဆည်းရန် စိတ်စောလျက် ရှိလေသည်။

နီကိုလေနှင့် အီလျင်တို့သည် လမ်းတစ်လျှောက် လုံးအူမြူးလျက် ရှိကြ၏။ ဘိုဂူချာရိုဗိုသည် စံအိမ်တစ်လုံး၊ ယာတော၊ အဆောက်အအုံများ စသည်တို့ဖြင့် ခမ်းနားစွာ တည်ရှိကာ မင်းသားတစ်ပါး၏ပိုင်စားနယ်မြေ ဖြစ်သည့် အလျောက် ကျွန်မချောချောကလေးများ၊ လယ်သူမချော ချောကလေးများကို တွေ့ရလိမ့်မည် ဟုလည်း မျှော်လင့် လျက် ရှိကြ၏။ လမ်းတစ်လျှောက်၌ ၎င်းတို့နှစ်ဦးသည် လာဗရူရှကာအား နပိုလီယန်နှင့် တွေ့ခဲ့ရပုံကို မေးမြန်း၍  လာဗရူရှကာ၏ ဇာတ်လမ်းကလေးများကို ရယ်မော နား ထောင်ကြပြီးနောက် အီလျင်၏ မြင်းသစ်စမ်းရန် မြင်းစီး ပြိုင်ကြသည်။

မိမိသွားရောက်မည့် ဘိုဂူချာရိုဗိုဒေသသည် ညီမ ငယ်နာတာရှာနှင့် စေ့စပ် ကြောင်းလမ်းခဲ့ဖူးသော မင်းသား ကလေးအင်ဒရေ၏ ပိုင်စားနယ်မြေဖြစ်ကြောင်း ကိုကား နီကိုလေ မသိသေးချေ။ " ဘိုဂူရိုဗိုမရောက်မီ ကုန်းဆင်းကလေးတစ်ခုသို့ ရောက်သော် နီကိုလေနှင့် အီလျင်တို့သည် မိမိတို့ မြင်း များကို ဇက်ဆွဲကာ မြင်းချင်း ပြိုင်စီးခဲ့ကြ၏။ နီကိုလေ သည် အီလျင်ကို ဖြတ်တက်လာခဲ့ပြီး လမ်းတစ်လျှောက် ဒုန်းစိုင်း၍စီးကာ ရွာထဲသို့ ပထမဝင်ခဲ့လေသည်။

“ဗိုလ်မှူးကသာသွားပေတာပေါ့ ခင်ဗျာ” အီလျင် က မြင်းစီးလာခဲ့ရသဖြင့် မျက်နှာနီရဲလျက်ရှိရာက ပြော လိုက်သည်။

“ငါ့ကို နိုင်အောင် မစီးနိုင်ပါဘူးကွ၊ မင်းမြင်းနဲ့ ပြိုင်ရလို့တော့ လွင်ပြင်မှာ ပြိုင်ရ ပြိုင်ရ၊ တောင်ဆင်းမှာ ပြိုင်ရ ပြိုင်ရ နိုင်ပါတယ်” နီကိုလေက တရှူးရှူး နှာမှုတ် ကာချွေးတွေစိုရွှဲနေသော ၎င်း၏ဒိုးနက်မြင်းကြီးကို ပွတ် သပ်၍ ပြောလိုက်သည်။

“အံမယ် ဗိုလ်မှူးမြင်းလောက်တော့ ဟောဒီ ကျွန်တော့်မြင်းသစ်ကြီးက အပျော့ခင်ဗျ၊ ကျွန်တော်က ဗိုလ်မှူးရှုံးရင် ရှက်နေမှာစိုးလို့ ပြိုင်မစီးတာ” လာဗရူရှ ကာက ၎င်း၏လှည်းဆွဲသော မြင်းပိန်ကလေးကို ရည် ညွှန်း၍ ပြော၏။

သို့နှင့် ၎င်းတို့သုံးဦးသည် စပါးစည့်တစ်ခုစီသို့ တစ်လှမ်းချင်း စီးလာခဲ့ကြ၏။ စပါးစည့်ရှေ့၌ကား လယ် သမားအုပ်ကြီးတစ်အုပ် စုဝေးလျက် ရှိသည်။

နီကိုလေတို့ လူသိုက်ကို မြင်သောအခါ၌ အချို့က ဦးထုပ်ချွတ်၍ ပြကြပြီး အချို့ကား ဦးထုပ်မချွတ်ဘဲ ၎င်းတို့ကိုကြည့်လျက်ရှိကြ၏။ မုတ်ဆိတ်ကျိုးကျဲ၊ ပါးရေ တွန့်လိမ်လျက်ရှိသော အရပ်ထောင်ထောင်မောင်းမောင်း လယ်သမားအဘိုးအိုနှစ် ယောက်သည် သီချင်းတကြော် ကြော်ဖြင့် လေးကွက်နင်းလှျောက်ရင်း ဘုံဆိုင်ထဲ မှ ထွက် လာကြပြီးနောက် နီကိုလေတို့အနီးသို့ ရောက်လာကြ၏။

“ဒါ့၊ အံမယ် တယ်ဇိမ်ကျနေကြပါလား၊ မြင်းစာ ကောက်ရိုးကလေး ဘာ လေးများ မရှိကြဘူးလား” နီကို လေက ရယ်၍ မေးလိုက်သည်။

“အဘိုးကြီးနှစ်ယောက်က တွဲလဲ တွဲမိသဒါ့” `အီလျင်က ဆို၏။

လယ်သမား အဘိုးအိုနှစ်ယောက်သည် အာလေး လျှာလေးကြီးဖြင့် သီချင်းဆိုနေကြ၏။ လူအုပ်ထဲမှ လယ် သမားတစ်ယောက် ထွက်လာကာ နီကို လေတို့အနီးသို့ ရောက်လာသည်။

“ဗိုလ်ကြီးတို့က ဘယ်တပ်ကလဲဗျ”

“ကျုပ်တို့က ပြင်သစ်တွေဗျ၊ ဟောဒါ နပိုလီ ယန်ပဲ” အီလျင်က ရယ်မော နောက်ပြောင်ကာ လာဗရူ ရှကာကို လက်ညှိုးထိုးပြသည်။

“သြော် ဗိုလ်ကြီးတို့က ရုရှားတွေလား” ထိုလယ် သမားက ထပ်မေးသည်။

“ဗိုလ်ကြီးတို့ ရှရှားတပ်တွေ ဒီနားမှာ တော်တော် များသလား” ဂင်တိုတို လယ်သမားတစ်ယောက် ထွက် လာ၍ မေးပြန်သည်။

“အများကြီးပဲ နေစမ်းပါဦး၊ ဒီနားမှာ ဘာလို့ စုဝေးနေကြတာလဲ၊ ဒီနေ့ ခင်ဗျားတို့ အားလပ်ရက်လား” နီကိုလေက မေးလိုက်သည်။ .

”သိပါဘူး ဗိုလ်ကြီးရာ၊ လူကြီးတွေက ကျွန်တော် တို့ လယ်သမားတွေကိစ္စ ကို တိုင်ပင်ဆွေးနွေးဖို့ ဆိုပြီး ခေါ် တာပဲ” လယ်သမားက လူအုပ်ထဲသို့ ပြန်သွား ရင်း ပြော လိုက်သည်။

ထိုအခိုက် စံအိမ်ဘက်ဆီမှ မိန်းမနှစ်ယောက်နှင့် ဦးထုပ်ဖြူ ဆောင်းထား သည့် ယောကျ်ားတစ်ယောက် နီကို လေတို့ထံသို့ လာနေသည်ကို မြင်ရ၏။

“ဟောဟိုပန်းရောင်လေးနဲ့ မြောက ငါ့မြားကွနော်၊ ငါ မှတ်ထားပြီးသား” အီ လျင်က မိမိထံသို့ ပြေးလာနေ သောဒွန်ယာရှာကို မြင်သဖြင့် လှမ်းပြောလိုက် သည်။

“ကျွန်တော့်မြုပါ ဗိုလ်လေးရ၊ မလုပ်ပါနဲ့” ( လာဗရူရှကာက မျက်စိတစ်ဖက် မှိတ်၍ အီလျင်ကို ပြော လိုက်သည်။

“ကျုပ်နှမက ဘာကိစ္စပါလိမ့်၊ ဆိုစမ်း” အီလျင်က ခပ်ပြုံးပြုံး မေးလိုက် သည်။

“ဗိုလ်လေးတို့ရဲ့ တပ်ရင်းနဲ့ ဗိုလ်လေးတို့ရဲ့ နာ  မည်ကို ထိပ်ထားလေးက အမေးခိုင်းလိုက်ပါတယ်”

“ဟောဒါက တပ်ခွဲမှူး မြို့စားလေး နီကိုလေ တဲ့ဗျာ၊ ကျုပ်ကတော့ နှမလေး ရဲ့ မောင်ကြီး၊ နှမလေးရဲ့ ကျိုးနွံလှစွာသော အစေတော်ဆိုပါစို့ ဟဲ ဟဲ”

အရက်မူးလျက်ရှိသော လယ်သမားအဘိုးအိုက အီလျင်နှင့် ဒွန်ယာရှာတို့ စကားပြောနေကြပုံကို သဘော ကျ၍ အာလေးလျှာလေးကြီးဖြင့် သီချင်းဆိုနေပြန်သည်။ ဒွန်ယာရှော့နောက်မှ အယ်ပါတစ် လိုက်လာလေသည်။ အယ်ပါတစ်သည် ခပ်လှမ်းလှမ်းမှ နီကိုလေအား ဦးထုပ် ချွတ် အရိုအသေပေးလိုက်သည်။

"ဗိုလ်ကြီးတို့ကို တစ်ဆိတ် ပြောပါရစေခင်ဗျာ။ အနှောင့်အယှက်ပေးတယ်လို့ မထင်ပါနဲ့" အယ်ပါတစ် က ရိုသေစွာပြောလိုက်၏။ သို့ရာတွင် မျက်နှာတွင်ကား ငယ်ရွယ်နုနယ်သော စစ်ဗိုလ်နီကိုလေကို အထင်သေး သည့်ဟန်ပေါ်လျက်ရှိသည်။ "ခုလ ၁၅-ရက်နေ့က ကံ တော်ကုန်သွားတဲ့ ဗိုလ်ချုပ်ဟောင်းဘိုလကွန်စကီရဲ့ သမီး တော်ဖြစ်တဲ့ ကျွန်တော်တို့ထိပ်ထားသခင်မလေးမှာ ဟောဒီလယ်သမားတွေက မချေမငံပြုမူကြတဲ့အတွက် အခက်အခဲ များ တွေ့နေပါတယ်၊ ဒါကြောင့်မို့ ထိပ်ထားသခင်မလေး က စံအိမ်ထဲကိုကြွဖို့ အဖိတ်ခိုင်းလိုက်ပါတယ်၊ တစ်ဆိတ် ကြွပါခင်ဗျာ၊ သူတို့ရှေ့မှာ ဒီကိစ္စကို မဆွေးနွေးလိုတဲ့ အတွက်"

( အယ်ပါတစ်က မြင်းတစ်ကောင်အနီးတွင် ဖြုတ်ဝဲ သကဲ့သို့ မိမိအနီးတွင် ရစ်ဝဲ ရစ်ဝဲလုပ်နေသော အမူးသမား နှစ်ယောက်ကို လက်ညှိုးထိုးပြလိုက်၏။

"အယ်ပါတစ်ကလဲဗျာ အချင်းချင်း ဒီလို မလုပ် ပါနဲ့၊ ဟီး ဟီး" တစ်ယောက်ကပြုံး၍ ပြောလိုက်သည်။ နီကိုလေသည် အရက်မူးလျက်ရှိသော လယ်သမားနှစ်ယောက်ကိုကြည့်၍ ပြုံးလိုက်သည်။

"မလိုက်ချင်လို့ ဗိုလ်ကြီးတို့ ဟောဒီက မိတ်ဆွေ များနဲ့ စိတ်အေးလက်အေး နေချင်သပဆိုရင်လဲ နေနိုင် ပါတယ်" အယ်ပါတစ်က လက်တစ်ဖက်ဖြင့် အမူး သမား များဘက်သို့ညွှန်ပြလိုက်ပြီး ခပ်တည်တည် ပြောလိုက်၏။

"အို လိုက်မှာပေါ့ဗျ၊ ဒီမှာ ဘာကိစ္စရှိတာမှတ်လို့" နီကိုလေက မြင်းကိုလှည့်စီးလာရင်း ပြောလိုက်သည်။

“နေစမ်းပါဦး၊ ခင်ဗျားတို့ ထိပ်ထားသခင်မလေး  ဘယ်လို ဖြစ်နေလို့လဲ”

“ပြောပရစေတော့ ဗိုလ်ကြီး၊ ဟောဒီက လယ် သမားတွေက သိပ်ပြီးရိုင်းပါတယ်၊ ကျွန်တော်တို့ထိပ်ထား သခင်မလေးက စစ်အန္တရာယ်နီးလို့ ပြောင်းဖို့စီစဉ်တာကို မပြောင်းရဘူးလို့ အတင်းတားထားကြပါတယ်၊ ပြောင်းရင် မြင်းတွေကို ဖြုတ်လွှတ်ပစ်မယ်လို့လဲ ခြိမ်းခြောက်နေကြ ပါတယ်၊ မနက်ကတည်းက ပစ္စည်းတွေ အဆင်သင့်ထုပ် ပိုးပြီးပေမယ့် သူတို့ရန်ကြောက်လို့ ထိပ်ထားသခင်မလေးမှာ ခရီးမထွက်နိုင်အောင် ဖြစ်နေပါတယ်” ။

“အိုး ဘာဆိုင်လို့လဲဗျ”

“ဆိုင် မဆိုင်တော့ မပြောတတ်ဘူး ဗိုလ်ကြီး၊ ( အဖြစ်ကတော့ ဒီအတိုင်းပါပဲ ခင်ဗျာ”

နီကိုလေသည် မြင်းပေါ်မှဆင်း၍ မြင်းကို တပ် လုလင်ထံအပ်ကာ အယ်ပါတစ်နှင့် အတူ စံအိမ်ဘက်သို့ လိုက်ပါလာရင်း အခြေအနေကို မေးမြန်းလျက်ရှိ၏။ ယမန်နေ့က မင်းသမီးကလေး မေရီက လယ်သမားများ အား ဝမ်းစာများ ဝေငှပေးမည်ဟု ပြောဆိုခြင်း၊ ဒရွန်ကို ခေါ်၍ ရှင်းပြခြင်း၊ လယ်သမားများ၏အစည်းအဝေးသို့ သွားရောက်စကားပြောခြင်းတို့ကြောင့် အခြေအနေမှာ တဖြည်းဖြည်း ဆိုးလာကာ ဒရွန်ကလည်း သော့များကို ပြန်အပ်၍ လယ်သမားများဘက်သို့ ပါသွားလေသည်။ အယ်ပါတစ်က ဒရွန်ကို အခေါ်ခိုင်းသော်လည်း ဒရွန်မှာ အတွေ့မခံဘဲ ရှောင်နေလေသည်။ ယနေ့နံနက် မင်းသမီး ကလေးမေရီက ခရီးထွက်ရန် မြင်းများကို အကခိုင်းလိုက် သည့်အခါတွင်မူကား လယ်သမားအုပ်ကြီးသည် စပါးစည့် ( အနီးတွင် စုဝေးရောက်ရှိလာကာ မင်းသမီးကလေး မေရီ အား ပြောင်းရွှေ့ခွင့် မပေးနိုင်ကြောင်း၊ မင်းသမီးကလေး ကို ပြောင်းရွှေ့ခွင့်မပြုရဟု အမိန့်ရထားကြောင်း၊ အကယ် ၍ မနာခံလျှင် မြင်းများကို လှည်းမှ အတင်းဝင်ရောက်ဖြုတ် ယူ

ရလိမ့်မည်ဖြစ်ကြောင်းဖြင့် လူတစ်ယောက်ကိုစေလွှတ် ၍ အပြောခိုင်းလိုက်၏။ အယ်ပါတစ်သည် အကြီးအကျယ် ဒေါပွကာ ဆူပူကြိမ်းမောင်းရန် ထွက်သွားသော်လည်း မင်းသမီးကလေးမေရီအား ပြောင်းရွှေ့ခွင့်မပြုနိုင်ကြောင်း၊ မိမိတို့တွင် ဤသို့ပြောင်းရွှေ့ခွင့် မပြုရန် အမိန့်ရထား ကြောင်း၊ အကယ်၍ ဤနေရာတွင် ဆက်လက်နေထိုင် လျှင် ယခင်ကကဲ့သို့ မင်းသမီးကလေး မေရီ၏အမိန့်ကို နာခံကာ အလုပ် ဆက်လက်လုပ်ကိုင်ကြမည်ဖြစ်ကြောင်း ဖြင့် အကြောင်းပြန်ခဲ့ကြ၏။ (လယ်သမားတို့၏ ကိုယ် စား ကျပ်ဆိုသူ လယ်သမားကဦးဆောင်၍ စကားပြော၏။ ဒရွှန်မှာ ရှောင်နေသဖြင့် မတွေ့ခဲ့ရချေ။) နီကိုလေနှင့် အီလျင်တို့ တစ်သိုက် ရွာထဲသို့ ဒုန်း စိုင်းဝင်လာသည့်အချိန်တွင် မင်းသမီးကလေး မေရီသည် ခရီးထွက်ရန်အတွက် မြင်းများကို အကခိုင်းလိုက်လေ သည်။ အယ်ပါတစ်၊ အထိန်းတော်ကြီးနှင့် အစေခံများက တားသော်လည်း မရတော့ချေ။ သို့ရာတွင် ရွာထဲသို့ ဒုန်းစိုင်း၍ဝင်ရောက်လာသော နီကိုလေတို့လူသိုက်ကို ပြင်သစ်တပ်များဟု အထင်မှားကာ ရထားသမား ထွက် ပြေးသဖြင့် ခရီးမထွက်ဖြစ်ဘဲ ဖြစ်ရပြန်သည်။

"ဘုရားက စေလွှတ်လိုက်တာပဲ၊ မောင် မင်းကြီး သား ရောက်လာပေလို့ပေါ့၊ ဘုရား ဘုရား" နီကိုလေ စံအိမ်ထဲသို့ဝင်လာသည့်အခါတွင် ဤသို့ တီးတိုး ပြောသံများကို ကြားလိုက်ရ၏။

နီကိုလေ ရောက်သွားသည့်အချိန်တွင် မင်းသမီး ကလေးမေရီသည် ကျယ်ပြန့်သောဧည့်ခန်းဆောင်ကြီး ထဲရှိ ထိုင်ဖုံတစ်ခုပေါ်၌ စိတ်ပျက်လက်ပျက်ထိုင်လျက် ရှိလေသည်။ မင်းသမီးကလေး မေရီသည် နီကိုလေကို လည်းကောင်း၊ နီကိုလေရောက်လာခြင်းကိုလည်းကောင်း၊ မိမိအဖြစ်ကိုလည်းကောင်း သတိမရတော့ချေ။ သို့ရာတွင် နီကိုလေ၏မျက်နှာပေါက်ကျပုံ၊ လမ်းလျှောက်ပုံနှင့်တကွ ရည်မွန်သောနှုတ်ဆက်စကားများကို မြင်လိုက် ကြားလိုက် သည်နှင့် တစ်ပြိုင်နက် နီကိုလေသည် မိမိကဲ့သို့ အထက် တန်းစားထဲကဖြစ်ကြောင်း သတိပြုမိလိုက်ကာ

တောက်ပ ဝင်းလက်သောမျက်လုံးကြီးများဖြင့် တစ်ချက်မျှ လှမ်း ကြည့်လိုက်ပြီး နောက် တုန်ယင်လျက်ရှိသော အသံဖြင့် အဖြစ်အပျက်ကို ပြောပြလေသည်။ မိမိ တို့နှစ်ဦး၏တွေ့ဆုံ ရပုံသည် မိတ်ကူးယဉ်အဖြစ်အပျက်ဆန်လွန်းလှသည်ဟု နီကို လေ တွေးလိုက်မိသည်။ "အင်း ခမည်းတော်ဆုံးလို့ သောကရောက်ရတဲ့အထဲ လယ်သမားတွေက အာဏာ ဖီဆန်လို့ အားကိုးရာမဲ့ဖြစ်နေတဲ့အချိန်မှာ ငါနဲ့ လာ တွေ့ ရတယ်၊ ကံတရားများ တယ်ပြီး ဆန်းကြယ်ပေတာပဲ။ ထိပ်ထားကြည့်ရတာ မျိုးရိုးကလဲ ကောင်း၊ အမူအရာ အပြောအဆိုကလဲ သိမ်မွေ့လိုက်ပါဘိ" နီကိုလေ သည်  အသံခပ်တိမ်တိမ်ဖြင့် ပြောဆိုလျက်ရှိသော မင်းသမီး ကလေးမေ ရီ၏စကားများကို နားထောင်ရင်း တွေးနေ မိလေသည်။

ဤအဖြစ်အပျက်များသည် ခမည်းတော်ကြီး၏ ဈာပနအခမ်းအနားပြီးသည့် နောက်တစ်နေ့တွင် ဖြစ် ပျက်လာခြင်းဖြစ်ကြောင်း ပြောပြသည့်အခါတွင် မင်းသမီး ကလေး မေရီ၏အသံမှာ ပို၍တုန်လာလေသည်။ မင်းသမီး ကလေး မေရီ သည် မျက်နှာကို လွှဲလိုက်ပြီးနောက် သနား စဖွယ် ဖြစ်အောင် ပြောခြင်းဖြစ်သည် ဟု နီကိုလေ့စိတ်၌ ( အထင်ရောက်သွားမည်ကို စိုးရိမ်သည့်ဟန်ဖြင့် နီကိုလေ၏ အရိပ်အခြည်ကို ကြည့်နေမိသည်။ နီကိုလေ၏မျက်လုံး တွင်လည်း မျက်ရည်တွေ ဝဲလျက် ရှိသည်။ ဤအခြင်းအရာ ကို - မင်းသမီးကလေးမေရီကလည်း သတိထား လိုက်မိ သည်။ ထို့နောက် ကျေးဇူးတင်သည့်အနေဖြင့် တောက်ပ ဝင်းလက်သော မျက်လုံးကြီးများဖြင့် ကြည့်လိုက်လေရာ ထိုမျက်လုံးကြီးများ၏ လှပခြင်းသည် မင်းသမီးကလေး မေရီ၏ရိုးလှသော မျက်နှာကို ဖုံးကွယ်ပစ်လိုက်သကဲ့သို့ ရှိလေ သည်။

"ကျွန်တော် ဒီနေရာကို မမျှော်လင့်ဘဲရောက်လာ ခဲ့ပြီး ထိပ်ထားရဲ့ အမှုကိစ္စ ကို သယ်ပိုးထမ်းရွက်ဖို့ အဆင် သင့်ရှိကြောင်း ပြသခွင့်ကြုံလာတဲ့အတွက်

ဝမ်းသာလို့ မဆုံး နိုင်အောင်ရှိပါတယ် ထိပ်ထား၊ ထိပ်ထား အလိုရှိတာကို သာ မိန့်တော်မူပါ၊ ထိပ်ထားလေးနှစ်သက်တဲ့ နေရာကို နှစ်သက်တဲ့အချိန်မှာ ကြွနိုင်ပါတယ်၊ အကယ်၍ ထိပ်ထား ရဲ့ ကိုယ်ရံတော်အဖြစ် စောင့်ရှောက်လိုက်ပါဖို့ ကျွန်တော့်ကို ခွင့်ပြုမယ်ဆိုရင်လဲ လိုက်ပို့ပါရစေ၊ မဲ့တစ်ပေါက် မစွန်း စေရဘူးဆိုတာ ကျွန်တော် ဝန်ခံပါတယ်”

နီကိုလေက ထိုင်ရာမှထလိုက်၍ မင်းမျိုးမင်းနွယ် တစ်ဦးကို နှုတ်ဆက်သကဲ့သို့ ရိုသေစွာဦးညွှတ်နှုတ်ဆက် လျက် တံခါးဆီသို့ ထွက်လာခဲ့သည်။

နီကိုလေသည် မင်းသမီးကလေး မေရီနှင့် သိကျွမ်း ရသည့်အတွက် များစွာ ဝမ်းသာလျက်ရှိသော်လည်း ဒုက္ခ ရောက်နေသော မိန်းမသားတစ်ယောက်အပေါ်တွင် အခွင့် အရေးယူသည်ဟု ထင်စရာဖြစ်နေမည်ကို စိုးရိမ်ပုံရသည်။ ထို့ကြောင့်လည်း လိုက်ပို့မည်ဟု မပြောဘဲ စကားကို မယုတ်မလွန်ပြောခြင်း ဖြစ်လေသည်။

မင်းသမီးကလေး မေရီကလည်း ဤသဘောကို ရိပ်စားမိကာ နီကိုလေ၏ ယဉ်ကျေးသိမ်မွေ့ပုံကို ကျေနပ် လျက် ရှိ၏။

“ကျေးဇူးအများကြီး တင်ပါတယ်” မင်းသမီး ကလေး မေရီက ပြင်သစ်လို ပြောလိုက်၏။ “ဒါပေမဲ့ ထိပ်ထား ထင်ပါတယ်၊ ခုလိုဖြစ်ရတာတွေဟာ အထင်လွဲလို့ ဖြစ်ရတာပါ။ သူတို့ခမျာလဲ အပြစ်ဆိုဖို့ မရှိပါဘူး” မင်းသမီးကလေး မေရီက ရှိုက်လိုက်၏။

“ထိပ်ထားကို ခွင့်လွှတ်ပါနော်၊ ထိပ်ထား ဝမ်း နည်းလွန်းလို့ပါ”

နီကိုလေသည် နောက်တစ်ကြိမ် ဦးညွှတ်နှုတ် ဆက်ပြီးနောက် စံအိမ်ထဲမှ ထွက်ခဲ့လေသည်။

# အခန်း ၁၄

“ဘယ့်နှယ်လဲ ဗိုလ်မှူး၊ ထိပ်ထားက ချောရဲ့ လားဗျ။ ကျွန်တော့်ပန်းရောင် ကလေးကတော့ မဲ့တယ်ဒါ့၊ အမည် ကလေးကလဲ ဒွန်ယာရှာတဲ့ဗျ ဟီ ဟိ”

အီလျင်သည် ဤသို့ပြောရာမှ နီကိုလေ၏ မျက်နှာ ထားကို မြင်လိုက်သည် တွင် တန့်၍သွား၏။ ၎င်း၏ သူရဲ ကောင်းလည်း ဖြစ်၊ တပ်မှူးလည်းဖြစ်သော နီကို လေသည် တစ်စုံတစ်ရာကို လေးနက်စွာတွေးတောလာဟန် တူပေ သည်။

နီကိုလေသည် အီလျင်ကို မျက်နှာထားဖြင့် ကြည့် လိုက်ပြီးလျှင် မည်သို့မျှမ ပြောဘဲ ခြေလှမ်းကျဲကြီးဖြင့် ရွာဘက်သို့ ထွက်သွားလေသည်။

“ခွေးသားတွေ ခားပြတွေ၊ အကြောင်းသိရောပေါ့ ကွာ” နီကိုလေသည် ပါးစပ်ကလည်း တတွတ်တွတ် ရွတ် လျက် ရှိသည်။ အယ်ပါတစ်သည် နီကိုလေ နောက်က မပြေးရုံတမယ် ခပ်သုတ်သုတ် လိုက်လာလေသည်။

“ဘယ်လို စီစဉ်ပါသလဲ ဗိုလ်မှူး” အယ်ပါတစ်က မေးလိုက်သည်။ နီကိုလေ သည် ရပ်လိုက်၍ လက်သီးကို ကျစ်ကျစ်ပါအောင်ဆုပ်ကာ လှည့်ကြည့်လိုက်ပြီး

”ဘယ်လိုစီစဉ်ရမှာလဲဗျ၊ ခင်ဗျား ဘာသောက်သုံး ကျသလဲ၊ လူကြည့်တော့ ကြီးလှပြီ၊ သူငယ်တောင် ပြန် တော့မယ်၊ ဒီလောက်ဆူပူနေတဲ့ လယ်သမားတွေကို နိုင်  အောင် မအုပ်နိုင်တော့ဘူးလား၊ ခင်ဗျား ဘာလုပ်နေတာလဲ။ ခင်ဗျားလဲ ကြံ့ရာပါထဲက နေမှာပဲ၊ ကျုပ် အကုန်ရိုက် သတ်ပစ်ပြန်ရော့မယ် တောက်”

နီကိုလေသည် ရင်ထဲတွင် ချုပ်တည်းထားရသော ဒေါသအစိုင်အခဲကို အလဟဿဖြုန်းတီးခြင်း မပြုလိုသည့် နှယ် နောက်ထပ် ဆက်လက်မပြောတော့ဘဲ ရှေ့က စိုက် စိုက် စိုက်စိုက်နှင့် ထွက်သွားသည်။ အယ်ပါတစ်သည် ကြားထဲက

အချောင်အကြိမ်းခံရသည့်အတွက် ထောင်းခနဲ ဖြစ်သွားသော်လည်း ချုပ်တည်းကာ နောက်ကလိုက်သွား ရင်း လယ်သမားများမှာ များစွာခေါင်းမာ၍ ရိုင်းစိုင်းကြကြောင်း၊ လက်နက်မပါဘဲ ၎င်းတို့ကို အရမ်းလုပ်၍ မရ ကြောင်း၊ ထို့ကြောင့် စစ်တပ်ကိုအခေါ်လွှတ်လျှင် ကောင်း မည်ဖြစ်ကြောင်းဖြင့် တတွတ်တွတ်ပြော၍ လိုက်ပါလာ သည်။

"စစ်တပ် ခေါ်မှာပေါ့ဗျ၊ ခင်ဗျား ပြောမှလား၊ ရမ်းမယ်၊ ဒီကောင်တွေကို "အရမ်း' လုပ်ပြမယ်" နီကိုလေ သည် ဆင်ခြင်တုံတရားကင်းသော တိရစ္ဆာန်ဒေါသစိတ်၊ ထိုဒေါသကို ချုပ်နှောင်မထားဘဲ ဖြေလွှတ်ပေးလိုသော စိတ်တို့ဖြင့် မွှန်ထူလျက်ရှိရာက အသက်ပင် မှန်မှန်မရှူ နိုင်လောက်အောင် ဖြစ်လျက်ရှိလေပြီ။

နီကိုလေသည် လယ်သမားများနှင့်တွေ့လျှင် မည် သို့ ပြုလုပ်ရမည်ကို တွေးတောမိခြင်း မရှိသေးဘဲ ခြေလှမ်း ကျဲ ကြီးများဖြင့် လူအုပ်ဆီသို့ လျှောက်လာခဲ့လေသည်။ အနားသို့ ရောက်လာလေလေ အယ်ပါတစ်မှာလည်း ဤလို ခပ်ရမ်းရမ်းလုပ်မှ ကောင်းသည်ဟု ထင်မှတ်လာလေလေ ဖြစ်၏။ နီကိုလေ၏ တင်းမာသောမျက်နှာ၊ လျင်မြန်သော ခြေလှမ်းများကို ကြည့်၍ လယ်သမားများမှာလည်း ကြောက်လန့်စိုးရိမ်စ ပြုလာကြလေသည်။

နီကိုလေတို့တစ်သိုက် ဤသို့ ရွာထဲသို့ရောက်လာ ၍ နီကိုလေနှင့် မင်းသမီးကလေးမေရီတို့ တွေ့ဆုံစကား ပြောကြသည့်အတောအတွင်း၌ကား လယ်သမားအုပ်စုထဲ တွင် သဘောကွဲလွဲမှုများ ပေါ်ပေါက်လာခဲ့လေပြီ။ အချို့က ယခုမှ ရောက်လာသော တပ်ဖိုလ်များသည် ရုရှားတပ်ဖိုလ် များ ဖြစ်ကြောင်း၊ မင်းသမီးကလေးမေရီကို မိမိတို့က တားဆီးထားသည်ဟု တပ်ဖိုလ်များက အထင်လွဲနိုင်ကြောင်းဖြင့် ပြောဆိုကြ၏။ ထိုသို့ပြောဆိုသူများမှာ ဒရွန်  တို့လူသိုက်ဖြစ်၏။ သို့ရာတွင် ဒရွန်က ဤသို့ပြောလိုက် သည်နှင့် တစ်ပြိုင်နက် ကုပ်တို့ လူသိုက်က

ထ၍ ပွက် ကြလေသည်။ , “ဟေ့ လူကြီး ခင်ဗျားကတော့ ဒီမြေပေါ်မှာ အံ့ခွ အောင်စားလာရပြီကိုး၊ ခင်ဗျားက သူတို့ဘက်က လိုက် မှာပေါ့၊ ဒါပဲနော် ကိုယ့်လူ၊ ခင်ဗျားမပါချင်ရင် ခင်ဗျား မြှုပ်ထားတဲ့ငွေအိုးကို ခင်ဗျားဘာသာ တူးယူပြီး အေးအေး လေးထွက်သွားပါ၊ ကျုပ်တို့အိမ်တွေ မီးလောင်လို့မက ဘာကြီးဖြစ်နေ နေ ခင်ဗျာအပူ တစ်ပြားသား မရှိဘူး”

“ဟေ့ ကိုယ့်ရွာကနေ ဘယ်မှ ထွက်မသွားရဘူးလို့ မင့်အဘ ပြင်သစ်တပ် တွေက ကြေညာချက်ထုတ်ထား တယ်ကွ၊ မသိဘူးလား” တစ်ယောက်က အော် ပြန်သည်။

“ဟေ့ကောင်၊ မင်းက ဒီမှာမနေဘဲ တခြားရွှေ့ဖို့ ပြောနေတာဟာ မင့်သား စစ်သားစုဆောင်းရေးထဲ ပါ သွားချင်လို့လား ဟင်၊ ငါ့သား ပါသွားတာ မင်း မသိ တော့ ဘူးလား၊ အကုန်သေကုန်အောင် အပြောင်းခိုင်းနေတာ လား” အဘိုးကြီး တစ်ယောက်က ဒရွန်ကို အော်၍ပြော နေပြန်သည်။

“ကျုပ်အဖို့ကတော့ အများသဘောအတိုင်းပါ။ ကျုပ်တစ်ယောက်တည်း အတွက် ပြောနေတာ မဟုတ်ပါ ဘူး”

“ဟေ့ တော်ကွ၊ အများသဘောဆိုရင်လဲ ဘာမှ ပြောမနေနဲ့”

ခဏကြာလျှင် နီကိုလေ ရောက်လာ၏။ နီကိုလေ့ နောက်၌ အီလျင်၊ လာဗရူ ရှကာနှင့် အယ်ပါတစ်တို့လည်း လိုက်လာကြသည်။ ကော့ပ်သည်ခါးထောက်၍ ခပ် ပြုံးပြုံး ဖြင့် ရှေ့သို့ ထွက်လာသည်။ ဒရွန်ကား လူအုပ်နောက်ထဲ သို့ ဝင်ရောက် ပျောက်ကွယ်သွားလေသည်။ လူအုပ်ကြီး သည် ရှေ့သို့ တိုးလာ၏။

“ဟေ့ ဒီထဲကလူကြီး ဘယ်သူလဲ” နီကိုလေက အော်၍ မေးလိုက်သည်။

“ဘာကိစ္စလဲ၊ လူကြီးနဲ့ ဘာကိစ္စ တွေ့ချင်လို့လဲ” ကျုပ်ကမေးလိုက်သည်။

သို့ရာတွင်စကားမဆုံးခင် လက်သီးတစ်လုံးသည် ကုပ်၏မေးရိုးပေါ်သို့ အရှိန်ပြင်းစွာရောက်လာကာ ကော့ပ် ၏ခေါင်းသည် လည်ထွက်လာပြီး ဦးထုပ်လည်း လွင့်ကျ သွား၏။

"သစ္စာဖောက်တွေ အကုန် ဦးထုပ်ချွတ်၊ ဘာမှတ် နေသလဲ" နီကိုလေက သွားကြိုးစေ့၍ အော်လိုက်သည်။ "ဘယ်မှာလဲ ရွာလူကြီး"

"ဟော့ ဟော့ ရွာလူကြီးတဲ့၊ ရွာလူကြီးကို မေးနေ တယ်၊ ဒရွန် ခင်ဗျားကို ခေါ်နေတယ်" လယ်သမားများ၏ အသံများသည် ပျော့သွားကြ၏။ ဦးထုပ်များကို ချွတ်၍ လည်း အရိုအသေပြုလိုက်ကြသည်။

"ကျွန်တော်တို့ အာဏာဖီဆန်တာ မဟုတ်ပါဘူး၊ အမိန့်ကို လိုက်နာပါတယ်" ကုပ်က ပြောလိုက်သည်။ ထိုအချိန်၌ လယ်သမားများသည် ဆူညံစွာ စကားပြော လျက် ရှိကြလေပြီ။

"ခင်ဗျားတို့လူကြီးတွေကမှ အဟုတ်မဟုတ်ကြဘဲ ကိုးဗျ၊ တစ်ယောက်က တစ်မျိုး၊ တစ်ယောက်က တစ်မျိုး အမိန့်ပေးနေကြတော့ ကျုပ်တို့ လူငယ်တွေ ဘာလုပ်ရမှာ

"ဟေ အကုန် တိတ်၊ သောက်စကား များမနေကြ နဲ့၊ ခေးပြတွေ၊ သူပုန်တွေ" နီကိုလေသည် ၎င်း၏ပင်ကို မဟုတ်သောအသံကြီးဖြင့် ကြောက်လန့်ဖွယ်ဟိန်း လိုက် ပြီးနောက် ကော့ပ်ကို ကုပ်မှဆွဲကိုင်လိုက်သည်။ "ဟော့ ဒီကောင်ကို ကြိုးနဲ့ တုပ်ထားကြစမ်း" လာဗရူရှကာသည် ပြေးလာကာ ကုပ်ကို နောက်မှလက်ပြန် ပူး၍ ချုပ်ထား လိုက်သည်။

"ကျွန်တော်တို့ တပ်တွေကို ခေါ်လိုက်ရမလား ဗိုလ်မှူး" လာဗရူရှကာက အော်၍ မေးလိုက်၏။

အယ်ပါတစ်က လယ်သမားအုပ်ကြီးဘက်သို့လှည့် ကာ လူနှစ်ယောက် နာမည်ကို ခေါ်၍ ကုပ်ကို ကြိုးနှင့် အတုပ်ခိုင်းလိုက်သည်။ လူနှစ်ယောက်သည် ရှေ့သို့ ထွက် လာကာ ၎င်းတို့ခါးမှ ခါးပတ်များကို ဖြုတ်နေသည်။

"ရွာလူကြီး ဘယ်မှာလဲ ၊ မေးနေတာ မကြားဘူး လား" နီကိုလေက အော် လိုက်ပြန်သည်။

ဒရွန်သည် သွေးမရှိတော့သောမျက်နှာဖြင့် မျက် မှောင်ကုတ်လျက် လူကြား ထဲမှ ထွက်လာ၏။

"ဘာလဲ ခင်ဗျား ရွာလူကြီးလား၊ ဟေး လာဗရူ ရှကာ၊ သူ့ကိုလဲ ကြိုးနဲ့ တုပ်" နီကိုလေက ထပ်၍အမိန့် ပေးလိုက်ပြန်သည်။

နောက်ထပ် လယ်သမားနှစ်ယောက် ထွက်လာကြ ပြန်ကာ ခါးပတ်များဖြင့် ဒရွန်ကို' တုပ်နှောင်ပြီးနောက် လာဗရူရှကာလက်သို့ အပ်လိုက်သည်။

"ဒီမှာ ခင်ဗျားတို့အားလုံး နားထောင်" နီကိုလေက လယ်သမားများကို ကြည့်၍ ပြောလိုက်၏။ "ခင်ဗျားတို့ အိမ်ကို ပြန်ပါ၊ အေးအေးဆေးဆေးသွားပါ၊ ဆူ ဆူညံညံ တစ်ခွန်းမှ မကြားပရစေနဲ့"

"ဘာဖြစ်လို့လဲ ဗိုလ်မှူး၊ ကျွန်တော်တို့ ဘာမှ မလုပ်ရပါကလား၊ ခုကိစ္စ ကတော့ မသိလို့ မှားတာပါ၊ ကျွန်တော်တို့က အစကတည်းက ပြောပါတယ်" တစ် . ယောက်တစ်ခွန်း ဆူညံစွာပြောဆိုလျက် ရှိကြပြန်သည်။

"ဘာ ခုမှ စကားများနေကြတာလဲ၊ အစတုန်းက ငါ မပြောဘူးလား" အယ်ပါ တစ်က ဝင်၍ငေါက်လိုက် သည်။ အတန်ကြာမှ စိတ်ပြေသွားဟန်ဖြင့် "မင်းတို့ လုပ်ပုံကလဲ ဟုတ်မှ မဟုတ်ဘဲကိုးကွ"

"ကျွန်တော်တို့ မှားတာပါ အယ်ပါတစ်" လယ် သမားများသည် ဤသို့ ပြောဆိုပြီးနောက် လူစုခွဲကာ ရွာ ထဲသို့ ပြန်သွားကြလေသည်။

ကြိုးနှင့် လုပ်ထားသော ကျပ်နှင့် ဒရွန်တို့ကို စံအိမ်ဘက်သို့ ခေါ်လာခဲ့၏။ အရက်မူးသော လယ်သမား နှစ်ယောက်သည် နောက်က လိုက်လာကြသည်။

"အံမာ ကြိုးလေးတုပ်ထားရက်ဆိုတော့ ကြည့်လို့ အကောင်းသားဗျ" တစ်ယောက်က လှမ်းပြောလိုက်၏။

"ဟေ့ကောင်၊ ဆရာ့ကို ဒီလိုမနောက်ပါနဲ့ကွ၊ ဘာများ အောက်မေ့နေသလဲ" တစ်ယောက်က ပြောပြန် သည်။

နှစ်နာရီခန့် ကြာသောအခါ ဘိုဂူချာရိုဗိုစံအိမ်ရှေ့ တွင် လှည်းများ ရောက်လာကြလေသည်။ လယ်သမားများ သည် ၎င်းတို့သခင်၏ပစ္စည်းများကို ထုပ်ပိုးကာ လှည်း များပေါ်သို့တင်လျက် ရှိကြ၏။ နီကိုလေသည် ဒရွန်ကို ဗီရိုကြီး တွင်ထည့်၍ ပိတ်ထားစေသော်လည်း မင်းသမီး ကလေး မေရီ၏ တောင်းပန်ချက်ကြောင့် ပြန်လွှတ်လိုက် ပြီဖြစ်၏။ ဒရွန်သည် စံအိမ်ရှေ့တွင်ရပ်လျက် ၎င်း၏ လူများကို စီမံခန့်ခွဲလျက် ရှိနေလေသည်။

"ဟေ့ ဒီလို ပစ်စလက်ခတ် မလုပ်ပါနဲ့ကွ" မျက်နှာဝိုင်းဝိုင်းနှင့် လက်သမား တစ်ယောက်က အစေခံ  မိန်းမတစ်ဦးလက်မှ ကြုတ်တစ်လုံးကို လှမ်းယူရင်း တစ်ယောက်ကို လှမ်းပြောလိုက်၏။ "ဘယ်လောက် အဖိုးတန်တယ်မှတ်သလဲ၊ ဒီအောက်ထိုးထည့်ရင် ပွန်းပဲ့ ကုန်မှာပေါ့ကွ၊ ဒီလိုလုပ်တာ ငါမကြိုက်ပါဘူး၊ မလုပ်ချင် အသာထိုင်နေပါ၊ လုပ်ရင်လဲ သေသေချာချာလုပ်ပါ။ ဒီမှာ ကြည့်၊ လျှော်ဖျာအောက်ကို ထိုးထည့်၊ အပေါ်က ကောက်ရိုးဖုံး သိလား"

"အလိုလေး ဘုတ်အုပ်တွေဗျ၊ ဘုတ်အုပ်တွေ၊ ဟော့လူတွေ ဘုတ်အုပ်တွေက လေးတယ်နော် သတိထား" မင်းသားကလေးအင်ဒရေ၏စာကြည့်ဆောင်ထဲမှ စာအုပ် ဗီရိုများကို မ လာရင်း ပြောလိုက်သည်။

"ကြည့်စမ်းဗျာ ကိုယ်တော်လေး ဘုတ်အုပ်တွေ နည်းတာမဟုတ်ဘူး၊ ကိုယ်တော်တို့က စာချည်းပဲ ဖတ် နေတာပဲ၊ ကစားခုန်စားရယ်လို့ကို မရှိဘူး" အရပ်မြင့်မြင့် လယ်သမားကြီးတစ်ဦးက အဘိဓာန်စာအုပ်ကြီးများကို လက်ညှိုးထိုး၍ပြောလိုက်သည်။

နီကိုလေသည် မင်းသမီးကလေးမေရီကို အနှောင့် အယှက်မဖြစ်စေလို သည့်အတွက် စံအိမ်ဘက်သို့ ပြန်မသွား တော့ဘဲ ရွာထဲတွင် စတည်းချကာ မင်းသမီးကလေး မေရီ ထွက်ခွာမည့်အချိန်ကို စောင့်လျက်ရှိလေသည်။ မင်းသမီး ကလေး မေရီ၏ရထား စံအိမ်မှ ထွက်လာသည့်အခါတွင် နီကိုလေသည် မြင်းပေါ် သို့ တက်လိုက်ပြီးနောက် ဘိုဂူချာ ရိုဗိုမှ ရှစ်မိုင်ဝေး၍ ရှရှားတပ်များသိမ်းပိုက်ထား သော ပေတစ်ရာလမ်းမကြီးအထိ မင်းသမီးကလေး မေရီနှင့်အတူ လိုက်ပါလာခဲ့ သည်။ ယန်ကိုဗိုရှိ ထမင်းဆိုင်ကလေးသို့ ရောက်သည်၌ နီကိုလေသည် ရိုသေစွာ နှုတ်ဆက်ကာ မင်းသမီးကလေးမေရီ၏လက်ခုံကို ပထမဆုံးအကြိမ် နမ်း ရှုပ် နှုတ်ဆက်ခြင်း ပြုလေသည်။

မိမိ ဒုက္ခသုက္ခရောက်နေချိန်တွင် နီကိုလေရောက် နေခြင်းမှာ ဘုရားသခင်၏တမန်တော်တစ်ပါး ရောက်လာ ၍ ကယ်တင်ခြင်းနှင့်တူပါကြောင်း၊ ထို့ကြောင့် အလွန် ( အကျိုးကျေးဇူးတင်ရှိပါကြောင်းဖြင့် မင်းသမီးကလေးမေရီ က ထုတ်ဖော်ပြောဆိုသည့်အခါ၌ နီကိုလေ၏မျက်နှာမှာ နီရဲသွားလေသည်။

"အထူးတလည် ကျေးဇူးတင်စရာမလိုပါဘူး ထိပ်ထား၊ ဒီအကူအညီမျိုး လောက်ကိုတော့ ရဲအရာရှိ  တစ်ဦးကလဲ ပေးနိုင်တာပါပဲ၊ လယ်သမားဆိုတာ ဒီလို

ပဲ၊ လယ်သမားတွေကသာ သိတတ်လို့ ရန်သူကို ခုခံခဲ့ကြရင် ရန်သူတွေ ဒီထိ အောင်လာနိုင်ကြမယ် မဟုတ်ပါဘူး”

နီကိုလေက မိမိအားချီးကျူးခြင်းကြောင့် ရှက်သွေး ဖြာလျက်ရှိရာက စကား လွှဲလိုက်သည်။

“ကျွန်တော့်အဖို့ကတော့ ထိပ်ထားနဲ့ သိကျွမ်းခွင့် ရတဲ့အတွက်ကိုပဲ ဝမ်းသာ လှပါပြီ၊ ကဲ ထိပ်ထား ကြွပေ ဦးတော့၊ ထိပ်ထားတစ်ယောက် စိတ္တသုခ၊ ကာယ သုခနဲ့ ပြည့်စုံပါစေလို့ ဆုတောင်းလိုက်ပါတယ်၊ နောက် ပြန်တွေ့ ကြတဲ့အခါမှာလဲ ထိပ်ထားတစ်ယောက် ပျော်ရွှင်ချမ်းမြေ့ တဲ့ အခြေအနေမျိုးမှာ ပြန်တွေ့ရလိမ့်မယ် လို့ မျှော်လင့်ပါ တယ်၊ ကျွန်တော်အနေခက်တာကို ထိပ်ထား မမြင်လိုဘူး ဆိုရင် ကျေးဇူးတင်စကား နောက်ထပ်မပြောပါနဲ့တော့ ထိပ်ထား”

သို့ရာတွင် မင်းသမီးကလေးမေရီသည် နီကိုလေ ကို ကျေးဇူးမတင်ဘဲ မနေ နိုင်ပါ။ ကျေးဇူးတင်ကြောင်းကို စကားလုံးများဖြင့် ထုတ်ဖော်ခြင်း မပြုရဟုဆိုလျှင် လည်း ကြင်နာခြင်း၊ ကျေးဇူးသိတတ်ခြင်းတို့ဖြင့် ဝင်းထိန်လျက် ရှိသောမျက်နှာ အမူအရာတစ်ခုလုံးဖြင့် ကျေးဇူးတင်ကြောင်း ကို ဖော်ပြလျက်ပင် ရှိပါသည်။ မိမိ အား ဘာမျှ အထူး တလည်ကျေးဇူးတင်ဖွယ်မရှိဆိုသော နီကိုလေ၏စကားကို မင်းသမီးကလေး မေရီ လက်မခံနိုင်ပါ။ အကယ်၍သာ နီကိုလေရောက်မလာခဲ့ လျှင် မိမိသည် ဆူပူသောင်းကျန်း လျက်ရှိသောလယ်သမားများနှင့် ပြင်သစ် များ၏လက်ခုပ် တွင်းတွင် သွန်လိုသွန် မှောက်လိုမှောက်အဖြစ်မျိုးသို့ ရောက်ရ တော့မည်ဟု မင်းသမီးကလေး မေရီ ထင်မှတ် လျက် ရှိပါသည်။ နီကိုလေသည် ၎င်း၏အန္တရာယ်ကို ပမာနမထားတော့ဘဲ မိမိကို ကယ်တင်ခဲ့သည်ဟု လည်း မင်းသမီးကလေးမေရီ ထင်မှတ်လျက်ရှိပါသည်။ ထိုမျှမက နီကိုလေသည် မိမိ၏ ဒုက္ခ၊ မိမိ၏သောကတို့ကို ကိုယ်ချင်း စာတတ်သော စိတ်သဘောထား မြင့်မြတ်သူ

တစ်ဦးဟူ၍ လည်း မင်းသမီးကလေး မေရီ တစ်ထစ်ချ ယူဆလိုက်ပါ သည်။ မိမိ၏ဆုံးရှုံးမှုကြီးကို ငိုရှိုက်၍ ပြောပြသောအခါ၌ မျက်ရည်တို့ ဖုံးလျက်ရှိသော နီကိုလေ၏ ကြင်နာရိုးသား သည့်မျက်လုံးများကိုလည်း မင်းသမီးကလေးမေရီ မမေ့နိုင် တော့ပါ။ နီကိုလေနှင့် ခွဲလာပြီးနောက် မိမိတစ်ဦးတည်း ခရီးဆက်ခဲ့ရသောအခါ၌ကား မင်းသမီးကလေး မေရီ၏ မျက်လုံးများ၌ မျက်ရည်များဝဲလျက် ရှိလေသည်။ ၎င်း၏ စိတ်၌ ထပ်ပြန်တလဲလဲ ပေါ်ပေါက်လျက်ရှိသော ထူးဆန်းသည့်မေးခွန်းသည်လည်း ထပ်မံ ပေါ်ပေါက်လာခဲ့လေ သည်။ ထိုမေးခွန်းကား မိမိသည် နီကိုလေကို မေတ္တာ သက်ဝင်နေပြီလောဟူသောမေးခွန်း ဖြစ်လေသည်။

ယန်ကိုဗိုမှ မော်စကိုသို့ သွားရာလမ်းသည် မင်း သမီး မေရီအဖို့ ရွှင်လန်းကြည်မွေ့ဖွယ် မရှိသော်လည်း မင်းသမီးကလေး မေရီသည် ရထားပြတင်းဝမှ မကြာခဏ ခေါင်းပြူထွက်လျက် ဝမ်းနည်းခြင်း၊ ဝမ်းသာခြင်းတို့ ရောယှက်လျက်ရှိသော အမူအရာဖြင့် တစ်စုံတစ်ရာအတွက် ပြုံးလျက် လိုက်ပါလာခြင်းကို အတူလိုက်ပါလာသော ဒွန်ယာရှာသည် တစ်ကြိမ်မကသတိပြုမိ၏။

"ငါ သူ့ကို တကယ်ချစ်နေပြီလား" မင်းသမီး ကလေး မေရီသည် ဤသို့ တွေးမိ၏။

မိမိအပေါ်၌ ချီသည် ခါးသည် မသိရသေးသည့် လူတစ်ယောက်အား တစ်ဖက်သတ် ကျိတ်၍ ချစ်နေသော မိမိအဖြစ်ကိုတွေးမိသည့်အခါ၌ကား မင်းသမီးကလေးမေရီ သည် လိပ်ပြာမလုံ ဖြစ်လျက် ရှိလေသည်။ သို့ရာတွင် မိမိ၏အံ့ပုန်းချစ်ကို မည်သူမျှသိကြတော့မည်မဟုတ်ဟု လည်းကောင်း၊ မိမိ၏ဘဝတွင် ပထမဆုံးအကြိမ်နှင့် နောက်ဆုံးအကြိမ် ချစ်မိသူတစ်ယောက်အား ဤသို့သော အံ့ပုန်းချစ်မျိုးဖြင့်ပင် သေတစ်ပန်သက်တဆုံး ချစ်ခင်သွား လျှင် မိမိ၌ ဘာမျှ အပြစ်မရှိဟု လည်းကောင်း တွေးကာ ကိုယ့်ကိုယ်ကိုနှစ်သိမ့်လျက် ရှိလေသည်။

တစ်ခါတစ်ရံ နီကိုလေ၏အမူအရာ၊ နီကိုလေ၏ ကြင်နာယုယမှုနှင့် နီကိုလေ၏စကားများကို ပြန်ပြောင်း တွေးမိပြန်လျှင်လည်း မိမိတို့နှစ်ဦး၏ အချစ်ရေးသည် မျှော် လင့်ချက်ရှိသေးသည်ဟု တွေးမိကာ တသိမ့်သိမ့်ကြည်နူး မိပြန်သည်။ ရထားပြတင်းမှ ခေါင်းပြူ၍ ပြုံးလျက်လိုက် ပါလာသော ၎င်း၏ထိပ်ထားသခင်မလေးကို ဒွန်ယာရှာ သတိပြုမိသောအချိန်မှာ ထိုသို့ ကြည်နူးလျက် ရှိချိန် ဖြစ် လေသည်။

“ကံတရားက ဖန်တီးပေးလိုက်တဲ့အခါကျတော့ ထိပ်ထားမှာ ဒုက္ခသုက္ခ တွေကြုံနေတုန်း သူကလဲ ဘိုဂူချာ  ရိုဗိုကို ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာပေတာပဲနော်၊ တိုက်ဆိုင်ချင်တော့ သူ့ညီမတော်ကလဲ အင်ဒရေကိုငြင်း ပြီးသား ဖြစ်နေတယ်[1]”

ဤအဖြစ်အပျက်အားလုံးသည် ဘုရားသခင်၏ ဖန်တီးမှုဖြစ်သည်ဟု မင်းသမီးကလေး မေရီ ယူဆသည်။

ထို့အတူ နီကိုလေသည် မင်းသမီးကလေး မေရီကို တစ်ဖက်သတ်တိမ်းညွတ်လျက် ရှိလေသည်။ မင်းသမီး ကလေးမေရီအကြောင်းကို တွေးလိုက်သည်နှင့် နီကိုလေ သည် ရွှင်ပျကြည်နူးလာတော့သည်။ ၎င်း၏သွေးသောက် များသည် နီကိုလေ၏ ဘိုဂူချာရိုဗို “စွန့်စားခန်း”များကို နားထောင်ပြီးနောက် ကောင်းချီးသြဘာပေးကြကာ မြင်းစာ ရှာထွက်သော နီကိုလေသည် မြင်းစာမတွေ့ဘဲ ရုရှားပြည်တွင် အချမ်းသာဆုံးသော သူကြွယ်သမီးကို တွေ့ခဲ့သည် ဟု နောက်ပြောင်သည့်အခါ၌ကား နီကိုလေမှာ တရှူးရှူး တရားရှားဖြစ်လျက် ရှိလေသည်။ နီကိုလေဒေါပွခြင်းကား အခြားကြောင့် မဟုတ်။ မိမိအဖို့ ရုပ်ရည်ဆို၍လည်း ပြော စရာမရှိ၊ ဥစ္စာပစ္စည်းဆို၍လည်း ဆိုစရာမရှိသည့် သိမ်မွေ့ နူးညံ့သော မင်းသမီးကလေး မေရီနှင့် လက်ထပ်ရန် ဟူ သော စိတ်ကူးသည် ၎င်း၏အလိုကို အတင်းဆန့်ကျင် ကာ

ခေါင်းထဲသို့ မကြာခဏ ချဉ်းနင်းဝင်ရောက်လာသော ကြောင့်ပေတည်း။ နီကိုလေ တစ်ဦးတည်းအနေဖြင့် ကြည့် သော် လောက၌ မင်းသမီးကလေး မေရီထက် သင့်လျော် သောကြင်ရာ ရှိနိုင်မည် မဟုတ်သည်မှာ မှန်ပါသည်။ မင်းသမီးကလေး မေရီနှင့် လက်ထပ်ခြင်းကြောင့် မိခင် မြို့စားကတော်ကြီးလည်း စိတ်ချမ်းသာမည် သာဖြစ်သည်။ ဖခင်မြို့စားကြီး စီးပွားရေးကိစ္စများသည်လည်း အဆင် ပြေသွား မည်သာ ဖြစ်ပါသည်။ မင်းသမီးကလေးမေရီ၏ စိတ်ချမ်းသာမှုသည်လည်း အတိုင်းထက်အလွန် ဖြစ်လိမ့် မည်ဟု နီကိုလေ ယုံကြည်ပါသည်။

သို့ရာတွင် ဆွန်ယာခမျာ မည်သို့ ရှိချိမ့်မည်နည်း။ မိမိကတိသည်လည်း မည်သို့ ရှိချိမ့်မည်နည်း။ ဤ အကြောင်း ကြောင့်ပင် မိမိနှင့် မင်းသမီးကလေး မေရီ တို့ကို နောက်ပြောင်ကျီစယ်တိုင်း နီကိုလေ ဒေါပွလျက်ရှိခြင်း ဖြစ်ပါသတည်း။

# အခန်း ၁၅

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် တပ်ပေါင်းစုံ စစ်သေနာပတိ ချုပ်အဖြစ် လက်ခံပြီး နောက် မင်းသားကလေးအင်ဒရေကို သတိရသဖြင့် စစ်ဦးစီးဌာနချုပ်သို့ လာရောက် အမှုထမ်းရန် အမိန့်ထုတ်လိုက်သည်။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ် စစ်သေနာပတိချုပ်အဖြစ် ပထမဆုံးအကြိမ် တပ်ပေါင်းစုံ ကို စစ်ဆေးသည့်နေ့၊ စစ် ဆေးလျက်ရှိသည့်အချိန်တွင် မင်းသားကလေးအင်ဒရေ သည် စစ်ဦးစီးဌာနချုပ်ရှိရာ ဇာရီဗိုဇေမစ်ရှေ့ရွာသို့ ရောက် လာလေသည်။ ရွာထဲသို့ရောက်လျှင် မင်းသားကလေး အင်ဒရေသည် စစ်သေနာပတိချုပ်၏ ကရထားရပ်ထား သည့် ခရစ်ယာန်သင်းအုပ်ဆရာ၏ အိမ်ဝရှိ ထိုင်ခုံပေါ် ၊ တွင် ထိုင်၍ မင်းသားကြီး ကူတူဇော့ဗ် ကို စောင့်လျက် ရှိသည်။ (မင်းသားကြီးအဆောင်အယောင်များ ချီးမြှင့်ခြင်း ခံရပြီးနောက် ကူတူဇော့ဗ်ကို ဤသို့ ခေါ်လေ့ရှိကြ၏။) ရွာအပြင်ဘက် ကွင်းပြင်ထဲမှ တပ်ရင်းတီးဝိုင်း၏ တီးမှုတ် သံများ၊ စစ်သေနာပတိချုပ်သစ်အား ကောင်းချီးသြဘာ ပေးသံများသည် ပျံ့လွင့် လာကြ၏။ မင်းသားကလေး အင်ဒရေနှင့် ဆယ်လှမ်းခန့်အကွာ၌ တပ်လုလင် ဗိုလ် နှစ်ဦး၊ ဆက်သားတစ်ဦးနှင့် အစေခံတစ်ဦးတို့သည် ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ် မရှိသည့်အတွက် ကြောင့် လည်း ကောင်း၊ ရာသီဥတုသာယာသည့်အတွက်ကြောင့် လည်း ကောင်း နောက်ပြောင်ရယ်မောလျက် ရှိကြ၏။ ထိုအခိုက် အရပ်ပြတ်ပြတ်၊ အသားညိုညို၊ နှုတ်ခမ်းမွေး ကားကားနှင့် မြင်းတပ် ဒုဗိုလ်မှူးကြီးတစ်ဦး မြင်းတစ်စီးဖြင့်ရောက်လာ ကာ မင်းသား ကလေးအင်ဒရေကို လှမ်းကြည့်လိုက်ပြီး နောက် မင်းသားကြီးကူတူဇော့ဗ် ဤအိမ်တွင် နေထိုင် သလော၊ မကြာခင် ပြန်ရောက်လာမည်လောဟု မေးမြန်း ခြင်း ပြု၏။

မင်းသားကလေးအင်ဒရေက မိမိမှာ မင်းသားကြီး ကူတူဇော့ဗ်၏ဌာနချုပ်ကမဟုတ်ဘဲ ဧည့်သည်တစ်ယောက် မျှသာဖြစ်ကြောင်းဖြင့် ပြန်ပြောလိုက်သည်။ ဒုဗိုလ်မှူးကြီးသည် သပ်ရပ်သန့်ရှင်းစွာဝတ်ဆင်ထားသော တပ်လုလင် ဗိုလ်ဘက်သို့ လှမ်းမေးလိုက် ပြန်သည်။ စစ်သေနာပတိ ချုပ်ရုံး တပ်လုလင်ဗိုလ်များသည် အခြားတပ်ဗိုလ်များကို

အဖက်မတန်လေဟန် ဆက်ဆံလေ့ရှိသည့်ထုံးစံအတိုင်း မပြောချင် ပြောချင် လေသံမျိုး ဖြင့်

”ဘာလဲ ကိုယ်တော်ကြီးလား၊ မကြောခင် ပြန် ရောက်လိမ့်မယ် ဘာကိစ္စရှိလို့လဲ” ဟု သံပြတ်ဖြင့် မေး လိုက်၏။

ဒုဗိုလ်မှူးကြီးသည် တပ်လုလင်ဗိုလ်၏တင်းမာ သောလေသံကြောင့် နှုတ်ခမ်းမွေး များအောက်က သွားများ ဖွေးခနဲပေါ်အောင် ပြုံးလိုက်ရာက မြင်းပေါ်မှ ဆင်းလိုက် ပြီး နောက် မြင်းကို ၎င်း၏နောက်ပါ ချောပို့ခြေမြန်တပ်သား တစ်ဦးအား လှမ်းပေးလိုက် သည်။ ထို့နောက် မင်းသား ကလေး အင်ဒရေကို ဦးညွှတ် အရိုအသေပြုကာ အနီး သို့ လျှောက်လာလေသည်။ မင်းသားကလေးအင်ဒရေက ထိုင်ခုံပေါ်တွင် ၎င်းအတွက် နေရာ ဖယ်ပေးလိုက်သည်၌ ဒုဗိုလ်မှူးကြီးသည်လည်း ၎င်းဘေးတွင် ထိုင်ချလိုက်သည်။

“ရောင်းရင်းလ် စစ်သေနာပတိချုပ်ကိုတွေ့ဖို့ စောင့် နေတယ်ထင်ပါရဲ့နော်၊ ဟုတ်စ” ၎င်းကဆို၏။ “စစ် သေနာပတိချုပ်ကတော့ လာတွေ့သမျှ အကုန်လက်ခံ တွေ့ နေတယ်လို့ ကြားရတာပဲဗျ၊ ကျွန်တော်တော့ ဟောဒီ ဝက်အူချောင်းစားတဲ့အကောင်တွေ (ဂျာမန်များကို ဆိုလို သည်။) နဲ့ အလုပ်လုပ်ရတာ စိတ်ပျက်လှပြီဗျာ၊ ဒါကြောင့် လဲ ဗိုလ်ချုပ်ကြီး အာမိုလော့ဗ်က “ကျွန်တော်မျိုးအား မည် သည့် ဆုတံဆိပ် အဆောင်အယောင်မျှ ချီးမြှင့်ရန် မလိုပါ။ ဂျာမန် လူမျိုးတစ်ဦးအဖြစ် အသိအမှတ်ပြု ချီးမြှင့်တော် မူရန်သာ လိုပါသည်ဘုရား” လို့ ဘုန်းတော်ကြီးသောဘုရား ကို အရွဲ့တိုက် လျှောက်တာနေမှာပဲ၊ ကျွန်တော်တို့ ရုရှားတွေ ကလဲ ဒီအတိုင်းပဲကြည့်နေတော့မလား မ သိဘူး၊ ဒီအတိုင်း သွားလို့ကတော့ ရှေ့လျှောက်ဒုက္ခရောက်ကုန်တော့မှာပဲ၊ ကြည့်လေဗျာ ခု တစ်ဆုတ်တည်း ဆုတ်နေရပြီ မဟုတ် လား၊ ရောင်းရင်းလဲ တိုက်ပွဲမှာပါတယ်နော် ဟုတ်စ”

ဒုဗိုလ်မှူးကြီးက မေး၏။

“ဟုတ်ကဲ့ တစ်ဆုတ်တည်း ဆုတ်ခဲ့ရတဲ့ တိုက်ပွဲ တွေထဲမှာ ပါခဲ့ရုံတွင်မကဘူးခင်ဗျ၊ ဆုတ်ခွာရင်း လောက မှာ ကိုယ်အချစ်ဆုံး အမြတ်နိုးဆုံးဖြစ်တဲ့ ခမည်းတော်ကြီး ကိုလဲ

ဆုံးရှုံးခဲ့ရသေးတယ်ဗျ၊ ကျုပ်ပိုင်စားနယ်မြေနဲ့  ချက်မြှုပ်ဖြစ်တဲ့ အိုးအိမ်တွေ ဆုံးရှုံးခဲ့ရတာကတော့ ထား ပါတော့လေ၊ ကျုပ်က စမိုးလင့်နယ်စားပါ”

“အလို ရောင်းရင်းက မင်းသားကလေးအင်ဒရေ လား၊ တွေ့ရတာ ဝမ်းသာပါတယ်ခင်ဗျာ၊ ကျွန်တော်က ဒုဗိုလ်မှူးကြီး ဒင်နီဆော့ဗ်ပါ၊ ဗာစကာလို့လဲ ခေါ်ကြပါ တယ်”“

ဒင်နီဆော့ဗ်သည် မင်းသားကလေး အင်ဒရေ၏ လက်ကိုဖျစ်ညှစ်ကာ လွန်စွာကြင်နာသောအမူအရာဖြင့် ကြည့်လျက်ရှိ၏။

- “ဟုတ်တယ် ကျွန်တော် သတင်းကြားတယ်” ဒင်နီဆော့ဗ်က ကရုဏာသက်စွာပြောလိုက်ပြီးနောက် အတန်ကြာတိတ်ဆိတ်လျက်ရှိ၏။

“ခု စစ်ထုတ်ပုံက ကင်းလက်မသဏ္ဍာန်ဆုတ်တဲ့ ဝိဋ္ဌိက ဗျူဟာစစ်ဗျ၊ ဒီတော့ကြားချောင်ကျန်ရစ်ခဲ့တဲ့ နေရာတွေမှာ သက်သာပေမယ့် စစ်ကြောင်းတည့်တည့်ကြီး ကျတဲ့နေရာတွေကတော့ တော်တော်ခံလိုက်ကြရတာပဲ၊ ရောင်းရင်းက မင်းသားကလေးအင်ဒရေ ဟုတ်တယ်နော်”

ဒင်နီဆော့ဗ်သည် ခေါင်းကို ယမ်းလိုက်၏။ “အေးဗျာ တွေ့ရတာ သိပ်ဝမ်းသာတယ်”

ဒင်နီဆော့ဗ်သည် မချိပြုံးပြုံးကာ မင်းသားကလေး အင်ဒရေ၏လက်ကို ဖျစ်ညှစ်၍ပြောနေပြန်သည်။

မင်းသားကလေးအင်ဒရေသည် ဒင်နီဆော့ဗ်၏ အကြောင်းကို နာတာရှာပြောပြ၍သိဖူး၏။ နာတာရှာက ဒင်နီဆော့ဗ်သည် မိမိအား ပထမဆုံးစ၍ ပိုးပန်းသူဟု ပြောဖူးသည်မဟုတ်လော။ မင်းသားကလေးအင်ဒရေ သည် မိမိ၏ရင်နှင့်ဖွယ်ကောင်းလှသောအဖြစ်ကို မတွေး ဘဲ မေ့ပျောက်ထားခဲ့သည်မှာ ကြာခဲ့လေပြီ။ သို့ရာတွင် ဒင်နီဆော့ဗ်နှင့် တွေ့လိုက်သည်နှင့် ၎င်း၏ရင်ထဲတွင် ပုန်းခိုလျက်ရှိသော နာကြည်းသည့်ဝေဒနာသည် ခေါင်းပြူ ၍ ပေါ်လာကြလေသည်။ စမိုးလင့်မှ ဆုတ်ခွာခဲ့ရခြင်း၊ “တောင်ကတုံး” ဒေသကိုပျက်စီးလျက်တွေ့ခဲ့ရခြင်း၊ ခမည်း တော်ကြီးကံတော်ကုန်ပြီဟု ကြားသိခဲ့ရခြင်းစသည့်

စိတ် မချမ်းမြေ့ဖွယ်အဖြစ်တို့သည် မင်းသားကလေးအင်ဒရေ ၏ရင်ထဲ၌ အမျိုးအမည်များ လှစွာသော ဝေဒနာမျိုးစုံတို့ကို ဖြစ်ပေါ်စေခဲ့သည်။ ထို့ကြောင့် မင်းသားကလေး အင်ဒရေ သည် အတိတ်၌ကျန်ရစ်ခဲ့သည့် ကိုယ်ရေးကိုယ်တာကိစ္စ ) များ ကို မှေ့မှေ့ပျောက်ပျောက် ဖြစ်စေခဲ့သည်။ ယခုကား ထိုအဖြစ်တို့သည် အသစ်တစ်ဖန်ပြန်၍ ပေါ်လာကြပြန် လေပြီ။ သို့ရာတွင် ထိုအဖြစ်အပျက်များ၏အရောင် ရိုက် ခတ်ချက်တို့သည် ယခင်ကလောက် ထုထည် မကောင်းလှ တော့ချေ။ ဒင်နီဆော့ဗ်အဖို့၌လည်း မင်းသားကလေး အင်ဒရေ အသံကို ကြားလိုက်သည်နှင့် နာတာရှာသီချင်း ဆိုပုံ၊ သီချင်းဆိုပြီးနောက် အသက်ဆယ့် ငါးနှစ်အရွယ် မြီး ကောင်ပေါက်မကလေးအား ချစ်ရေးဆိုခဲ့ပုံ စသည့် စိတ် ကူးယဉ်ဆန်လှ သော အတိတ်ဖြစ်ရပ်တို့သည် အသစ်ပြန်၍ ဖြစ်လာခဲ့ကြပြန်သည်။ ဒင်နီဆော့ဗ်သည် ထို အဖြစ်ကို ပြန်၍အမှတ်ရလာရာက ပြုံးလိုက်ပြီးနောက် ထိုအတွေး ကို ခေါင်းထဲမှ ပျောက် ကာ ယခုလောလောဆယ် စိတ် ဝင်စားလျက်ရှိသောအရာကို တွေးနေမိသည်။ ထိုအရာ ကား အခြားမဟုတ်။ တပ်တော်များဆုတ်ခွာလာခဲ့စဉ်က ရှေ့ပြေးကင်းစခန်းများတွင် အမှုထမ်းလျက်ရှိရင်း ၎င်း ကိုယ်တိုင်ရေးဆွဲခဲ့သော စစ်ဆင်ရေး စီမံကိန်းတစ်ခု အကြောင်းပေတည်း။ ဒင်နီဆော့ဗ်သည် ၎င်း၏စစ်ဆင် ရေး စီမံကိန်းကို ဗိုလ်ချုပ်မှူးကြီး ဘာကလေဒီတိုလီထံတွင် တင်ပြခဲ့ပြီးနောက် စစ်သေနာပတိချုပ်ထံသို့ တင်ပြရန် ရောက်လာခဲ့ခြင်း ဖြစ်၏။ ဒင်နီဆော့ဗ်ရေးဆွဲသည့် စစ်ဆင် ရေး စီမံကိန်း၏သဘောမှာ ပြင်သစ်များက ၎င်းတို့၏ ထိုးစစ်ကြောင်းကို ရှည်လျားစွာဖြန့်ထားသည့်အလျောက် ရုရှား တပ်များက ပြင်သစ်စစ်ကြောင်းကို ထိပ်ချင်းဆိုင် တိုက်၍ ခံစစ်ပြုမည့်အစား (သို့မဟုတ် ထိပ်ချင်းဆိုင်တိုက် နေသည်နှင့် တစ်ပြိုင်တည်း၌) နောက်ပိုင်းမှ ဝင်ရောက် ကာ ပြင်သစ် တို့၏ ထောက်ပံ့ရေးလမ်းကြောင်းများကို ဖြတ်တောက်ပစ်ရန်ပင် ဖြစ်လေသည်။ ဒင်နီ ဆော့ဗ်သည် ၎င်း၏ စီမံကိန်းကို မင်းသားကလေးအင်ဒရေအား ရှင်းပြ လျက် ရှိ၏။

"ပြင်သစ်တွေဟာ ဒီလောက်အကျယ်ကြီး ဖြန့် ထားတဲ့စစ်ကြောင်းကြီး တစ်ခုလုံး ကို လုံအောင် မထိန်းနိုင် ပေဘူး၊ ဒီတော့ ကျွန်တော်တို့က ပြင်သစ်စစ်ကြောင်း တစ်လျှောက်က အင်အားနည်းတဲ့နေရာတွေကို ဝင်ဖောက် ပြီး တိုက်ဖို့လိုတယ်၊ လူငါးရာ လောက်သာရရင် ကျွန်တော် ဝင်ဖောက်ပစ်ပါတယ်ဗျာ၊ နိုင်ပါတယ်။ ဒီကောင်တွေရဲ့

ထိုးစစ်ကိုခံဖို့ ကျွန်တော်တို့မှာ နည်းတစ်နည်းပဲ ရှိတော့  တယ်ဗျ၊ အဲဒါက ဘာလဲဆိုတော့ ပြောက်ကျား စစ်ဆင် ရေးပဲ”

ဒင်နီဆော့ဗ်သည် စိတ်ပါလာကာ ထိုင်ရာမှထပြီး ၎င်း၏စစ်ဆင်မှု စီမံကိန်းကို မင်းသားကလေး အင်ဒရေ အား ရှင်းပြလျက် ရှိသည်။ ထို့နောက် အပြင်ဘက်ကွင်း ပြင်ရှိ စစ်ရေးပြသောနေရာမှ သီချင်းသံများ၊ အော်ဟစ်သံ များသည် ပို၍ ဆူညံလာကြသည်။ မြင်းခွာသံများနှင့် အသံများသည် ရွာနားသို့ ရောက်လာကြ၏။

“ဟော ပြန်လာပြီ ပြန်လာပြီ” ဝင်းဝတွင် ရပ် နေသည့်ကော့ဆက် မြင်းတပ် သားတစ်ယောက်က အော်၍ ပြောလိုက်၏။

မင်းသားကလေးအင်ဒရေနှင့် ဒင်နီဆော့ဗ်သည် ဝင်းဝသို့ လာခဲ့ကြသည်။ ဝင်းဝ၌ စစ်သားတန်းတစ်တန်း (ကိုယ်ရံတော်တပ်ဖွဲ့ဖြစ်သည်) သတိအနေအထားဖြင့် ရပ်လျက်ရှိ ခြင်းကို မြင်ရ၏။ ခဏကြာလျှင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် သေးငယ်သောရွှေပုပ် ရောင် မြင်းကလေး တစ်ကောင်ကိုစီး၍ ရွာလမ်းမတစ်လျှောက်မှ လာနေသည် ကို မြင် ရ၏။ ၎င်း၏နောက်မှ ဗိုလ်ချုပ်ကြီးများသည် မြင်းကိုယ်စီဖြင့် လိုက်ပါလာခဲ့ကြလေသည်။ ဗိုလ်ချုပ်ကြီး ဘာကလေဒီတိုလီသည် စစ်သေနာပတိချုပ်၏နောက်နား တွင် ကပ်လျက် စီးလာ၏။ ၎င်းတို့နောက်မှ တပ်ဗိုလ် များသည် ခြေလျင်ပြေးလိုက်လာကာ ကောင်းချီးသြ ဘာ ပေးလျက် ရှိကြလေသည်။

. စစ်သေနာပတိချုပ်၏ တပ်ရေးဗိုလ်များသည် မြင်း များကို ဒုန်းစီးကာ အိမ်ဝင်းထဲ သို့ ရှေးဦးစွာရောက်လာ ကြ၏။ စစ်သေနာပတိချုပ် ဗိုလ်မှူးကြီး ကူတူဇော့ဗ်သည် ၎င်း၏လေးလံလှသော ခန္ဓာကိုယ်ကြီးအောက်တွင် ညွတ် ကျနေသည်ဟုထင်ရသည့် မြင်း ပုကလေးကို ကြိမ်တို့ရင်း အနီရစ်တပ် မြင်းတပ်ဗိုလ်ဆောင်းဦးထုပ်ပြားကလေးဆီ သို့ လက်မြှောက်၍ ပြန်လှန် အရိုအသေပြုလျက် ခေါင်း တဆတ်ဆတ်ညိတ်လာ၏။ ကိုယ်ရံတော်တပ်ဖွဲ့မှာ ရာထူး အဆောင်အယောင်များ အပြည့်အစုံ ဝတ်ဆင်ထားသည့် ခန့်ညားသောလက်ပစ်ဗုံးကိုင် ရဲမက်တပ်သားများ ဖြစ်လေ ရာ စစ်သေနာပတိချုပ်သည် ကိုယ်ရံတော်တပ်ဖွဲ့ ရှေ့သို့ ရောက်သည်နှင့် ရုတ်တရက် ရပ်တန့်လိုက်၍ တပ်မှူး တစ်

ဦး၏ ခန့်ညားတည်ငြိမ်သောအကြည့်မျိုးဖြင့် တစ်မိနစ်  ခန့်ကြည့်လိုက်ပြီးနောက် နောက်မှလိုက်ပါလာသော ဗိုလ် ချုပ်ကြီးများနှင့် တပ်ဗိုလ်များဘက်သို့ လှမ်းကြည့်လိုက်သည်။ စစ်သေနာပတိချုပ်၏မျက်နှာသည် သိမ်မွေ့သော အသွင်ကို ရုတ်တရက်ဆောင်လိုက်လျက် စိတ်ရှုပ်သော အမူအရာဖြင့် ပခုံးနှစ်ဖက်ကို တွန့်လိုက်သည်။

"ဘယ့်နှယ်လဲ သွေးသောက်ကြီးတို့ရဲ့၊ ဒီလိုတပ် သားကောင်းတွေရှိရက်နဲ့ တစ်ဆုတ်တည်း ဆုတ်နေရပါ ကလား၊ ကဲ နောက်မှ တွေ့ကြဦးစို့ဗျ" စစ်သေနာပတိ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် မင်းသားကလေးအင်ဒရေ နှင့် ဒင်နီဆော့ဗ်တို့အနီးမှ ဖြတ်၍ အိမ်ဝင်းထဲသို့ ဝင်လာခဲ့ လေသည်။

ကောင်းချီးသြဘာသံများကား အိမ်ဝင်းပြင်ဘက် တွင် ဆူညံလျက်ရှိသည်။

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်မှာ မင်းသားကလေး အင် ဒရေနှင့် ယခင်တစ်ခေါက် တွေ့ခဲ့ရစဉ်ကထက် ဝဖြိုးဆူအစ် ကာ ပျော့တွဲလျက် ရှိ၏။ သို့ရာတွင် ဖြူလျက်ရှိသော မျက်လုံးအိမ်၊ အမာရွတ်ကြီးနှင့် တကွ ပင်ပန်းနွမ်းနယ် လျက်ရှိ သည့်အမူအရာကား ယခင်ကအတိုင်းပင်ဖြစ်၏။ စစ်သေနာပတိချုပ်သည် ကိုယ်ရံတော်မြင်းတပ် ဦးထုပ်ဖြူ ကို ဆောင်းလျက် ဝတ်ရုံကြီးကို ဝတ်ထား၏။ ကြာပွတ် တစ်ချောင်းကို ကြိုးသေးသေးဖြင့် ပခုံးတွင် လွယ်ထား သည်။ ၎င်းသည် မြင်းပုကလေးပေါ်တွင် ပျင်းရိပျင်းတွဲ ထိုင်၍ လိုက်ပါလာရာ ၎င်း၏ခန္ဓာကိုယ်ကြီးသည် ဘယ် ညာယိမ်းလျက်ရှိ၏။

အိမ်ဝင်းထဲသို့ရောက်သည်နှင့် စစ်သေနာပတိချုပ် သည် ဖူးခနဲ မှုတ်ထုတ်လိုက်သည်။ ၎င်း၏မျက်နှာသည် ပြကွက်တစ်ခုအပြီးတွင် တစ်ကိုယ်လုံးမှ အကြောအချဉ် များကိုလျှော့ချကာ အေးအေးဆေးဆေးအနားယူတော့မည့် လူတစ်ယောက်၏အမူအရာမျိုး ကို ဆောင်လျက်ရှိ၏။ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် လက်ဝဲဘက်ခြေထောက်ကို ခြေနင်းကွင်းမှ ချွတ်လိုက်ပြီးနောက် မျက်နှာကို ရှုံ့မဲ့လိုက် ကာ ခန္ဓာကိုယ်ကြီးကို ပင်ပန်းကြီးစွာတိမ်းငံ့လျက် ခြေ တစ်ဖက်ကို မြင်းကုန်းပေါ်မှ ကျော်ရင်း ညည်းတွားလိုက် သည်။ ထို့နောက် အောက်မှကူညီရန် အဆင်သင့်စောင့်နေ ကြသော ကော့ဆက်မြင်းတပ်သား များနှင့် တပ်ရေးဗိုလ် များလက်ထဲသို့ လျှောဆင်းလိုက်သည်။  ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်

သည် ကိုယ်ကို သပ်ရပ် စေပြီးနောက် မျက်လုံးများကို မှေးကာ ဘေးပတ်ဝန်းကျင် ကို ကြည့်လိုက်သည်။ မင်းသားကလေးအင်ဒရေကို မြင် သော်လည်း မှတ်မိပုံမရချေ။

ထို့နောက် ဘဲသွားသကဲ့သို့ ကွတကွတဟန်ဖြင့် စမုတ်ဆောင်ဆီသို့ ထွက်သွားလေသည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် တမှုတ်ထုတ်လျက်က မင်းသား ကလေးအင်ဒရေကို လှမ်းကြည့်လိုက်ပြန်သည်။ အသက် အရွယ်ကြီးသူတို့တွင် ဖြစ်တတ်သည့် ဓမ္မတာအတိုင်း အတန်ကြာမှ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မိမိ၏အမှတ် သညာထဲတွင် ကျန်ရစ်ခဲ့သည့် မင်းသားကလေးအင်ဒရေ ၏ယခင်ရုပ်နှင့် ယခုမြင်နေရသည့်ရုပ်ကို ဆက်စပ်တွေး မိကာ မှတ်မိလာပုံရသည်။

“အလို မင်းသားကလေးအင်ဒရေပါလား၊ ဘယ့် နယ်ကျန်းခဲ့သာလို့ မာရဲ့လားဟေ့၊ လာလာ” ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်သည် ပတ်ဝန်းကျင်ကို ပင်ပန်းကြီးစွာ လှည့်ကြည့်လိုက်ပြီးနောက် စမုတ်ဆောင်လှေကားပေါ်သို့ တက်သွား၏။ လှေကားထစ်များသည် ၎င်း၏လေးလံ လှသောခန္ဓာကိုယ်ကြီးအောက်တွင် တရှဲ့ရှဲ့မြည်လျက် ရှိကြ၏။

စမုတ်ဆောင်ထဲသို့ရောက်လျှင် ဗိုလ်ချုပ်ကြီးကူတူ ဇော့ဗ်သည် အင်္ကျီရင်ဘတ်ကြယ်သီးများကို ဖြုတ်ကာ ခုံတန်းလျားတစ်ခုပေါ်တွင် ဝင်ထိုင်လိုက်သည်။

“ခမည်းတော်ကြီးကောကျန်းခံသာလို့ မာရဲ့လား”

“ကံတော်ကုန်ပြီလို့ မနေ့ကပဲ သတင်းရောက်ပါ တယ် ဗိုလ်ချုပ်” မင်းသားကလေးအင်ဒရေက ဖြုန်းစား ကြီးပြောလိုက်၏။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ဝမ်းနည်းအံ့အား သင့်ဟန် မျက်လုံးအပြူးသားဖြင့် ကြည့်နေသည်။ ထို့ နောက် ဦးထုပ်ကိုချွတ်၍ လက်ယှက်ဆုတောင်းလျက် ရှိလေသည်။

“အိမ်း ရောင်းရင်းကြီး ကောင်းရာသုဂတိ လား ပါစေဗျာ၊ အမျှ အမျှ အမျှ”

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် သက်ပြင်းရှည်ကြီး ကိုချလျက် အတန်ကြာ တိတ်ဆိတ်နေသည်။ ၎င်း၏ရင်အုံ ကြီးသည် နိမ့်တုံမြင့်တုံ ဖြစ်လျက် ရှိ၏။

”ကိုယ်တော်ကြီးကို ငါ လေးစားတယ်၊ ချစ်လဲ ချစ်တယ်၊ အိမ်း စိတ်မကောင်းဘူး ကွယ်”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသားကလေး အင်ဒရေကိုပွေ့ဖက်၍ ၎င်း၏ဆူဖြိုးသောရင်ဘတ်ကြီးတွင် အတန်ကြာမျှ ကပ်ထား၏။ လူချင်းခွာလိုက်သောအခါ ၌ ၎င်း၏ထူအမ်းသောနှုတ်ခမ်းကြီးသည် တဆတ်ဆတ် တုန်လျက်ရှိ၍ မျက်လုံးတွင် မျက်ရည်ဝဲလျက်ရှိခြင်းကို မင်းသားကလေးအင်ဒရေမြင်ရ၏။ ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်သည် သက်ပြင်းချလိုက်ပြီးနောက် ခုံပေါ်၌ လက် နှစ်ဖက်ထောက်၍အားပြု ကာ ထိုင်ရာမှ ထလိုက်သည်။

“ကဲ၊ လာ လာ၊ အေးအေးဆေးဆေး စကားပြော ကြရအောင်” ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်က ပြောလိုက် သည်။

ထိုအခိုက် ဒင်နီဆော့ဗ်သည် ဖိနပ်သံဆူးမှ ချူသံ တချွင်ချွင်ပေးကာ စမုတ်ဆောင် လှေကားအတိုင်း တက် လာလေသည်။ တပ်ရေးဗိုလ်များက ဒေါသတကြီးဖြင့် ပြောဆို ကာ တားမြစ်ကြသော်လည်း ဒင်နီဆော့ဗ်သည် ဇွတ်အတင်းတက်လာ၏။ ဒင်နီဆော့ဗ် ကား ရန်သူကို လည်းကောင်း၊ အထက်အရာရှိကို လည်းကောင်း အမှု မထားသည့်နေရာ တွင် နှစ်ယောက်မရှိသူ ဖြစ်ပေသည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ခုံတန်းလျားကို လက်ဖြင့် အားပြုထောက်ထားရာမှ ဒင်နီဆော့ဗ်ကို မော့ကြည့်လိုက် ၏။ ဒင်နီဆော့ဗ် သည် မိမိ၏ နာမည်နှင့် ရာထူးအဆင့် အတန်းကို ထုတ်ဖော်ပြောဆိုလျက် နိုင်ငံအတွက် အရေး ကြီးသောကိစ္စတစ်ရပ်ဖြင့် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်အား လာရောက်တွေ့ဆုံခြင်း ဖြစ်ကြောင်း ပြောပြလေသည်။ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ပင်ပန်းနွမ်းနယ်စွာဖြင့် ဒင် နီ ဆော့ဗ်ကိုကြည့်လိုက်လျက် စိတ်ပျက်ဟန်လက္ခဏာဖြင့် လက်ကို ဝှေ့ယမ်းကာ ဗိုက် ပေါ်တွင် လက်နှစ်ဖက်ယှက် တင်လိုက်ပြီးနောက်

”နိုင်ငံတော်အတွက် အရေးကြီးတဲ့ ကိစ္စ၊ ဟုတ်စ၊ အိမ်း၊ ဆိုစမ်းပါဦး၊ ဘာတွေများ အရေးကြီးသလဲ”

ဒင်နီဆော့ဗ်မျက်နှာသည် အပျိုမကလေးတစ်ဦး၏ မျက်နှာကဲ့သို့ နီရဲသွား၏။ (ညစ်ပတ်ပေကျံကာ အရက် ဖော ဖောလျက်ရှိသော မျက်နှာပေါ်၌ အပျိုမကလေးကဲ့သို့ ရှက်သွေးဖြန်းခြင်းမျိုးကို တွေ့ရခြင်းမှာ တစ်မျိုးထူးဆန်း နေသည်။) ဒင်နီဆော့ဗ်က စမိုးလင့်နှင့် ဗျာဇမာကြားမှ ရန်သူတို့၏ထောက်ပံ့ရေးလမ်းကြောင်းကို ဖြတ်တောက်ရန် ၎င်း၏စီမံကိန်းကို တင်ပြခြင်း ပြုလေသည်။ ဒင်နီဆော့ဗ် ကား ထိုဒေသမှလာ၍ ထိုဒေသကို ကောင်းစွာကျွမ်းသူ ဖြစ်၏။ ၎င်း၏အပြောကို နားထောင်ရခြင်းဖြင့် ဒင်နီ ဆော့ဗ်၏စီမံကိန်းမှာ အားရဖွယ် ဖြစ်လေသည်။ ဗိုလ်ချုပ် ကြီးကူတူဇော့ဗ်သည် မည်သို့မျှ မပြောသေးဘဲ ခြေထောက် များကို ငုံ့ကြည့်နေသည်။ တစ်ချက် တစ်ချက်၌လည်း တစ်ဖက်ခန်းထဲမှ စိတ်မချမ်းသာဖွယ်ရာအရာတစ်ခု ဖြုန်း ခနဲ ထွက်လာတော့မည်ကို စိုးရိမ်သကဲ့သို့ ထိုအခန်းဝကို ( မသက်မသာလှည့်၍ ကြည့်လျက်ရှိ၏။ ဒင်နီဆော့ဗ်က ၎င်း၏စစ်ဆင်ရေးစီမံကိန်းကို အားတက်သရောပြောနေ သည့်အချိန်၌ ထိုအခန်းထဲမှ ဗိုလ်ချုပ်ကြီးတစ်ဦးသည် စာတွဲများကို လက်မောင်းကြားတွင်ညှပ်၍ ဘွားခနဲ ထွက်ပေါ်လာလေသည်။

"ဘာလဲဗျ၊ ပြီးပလား" ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ဒင်နီဆော့ဗ် ရှင်းပြနေသည့် ကြားထဲက ဖြတ်၍ ဗိုလ်ချုပ် ကြီးသို့ လှည့်မေးလိုက်၏။

"မှန်ပါ၊ ပြီးပါပြီ ကိုယ်တော်ကြီး" ဗိုလ်ချုပ်ကြီးက ပြန်ပြောလိုက်သည်။

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ခေါင်းကို ဖြည်း ညင်းစွာ ယမ်းလိုက်သည်။ ၎င်း၏အမူအရာမှာ "လူတစ် ယောက်တည်းနဲ့ ဒီလောက်များလှတဲ့အလုပ်တွေကို ဘယ့်နှယ်လုပ်နိုင်ပါ့မလဲ ကရို့" ဟု ပြောနေသကဲ့သို့ ရှိ၏။ ထို့နောက် ဒင်နီဆော့ဗ်၏ တင်ပြချက်များကို ဆက်၍ နားထောင်နေပြန်သည်။

"နပိုလီယန်ရဲ့ ထောက်ပံ့ရေးလမ်းကြောင်းတွေ ကို ကျွန်တော် ဖြတ်တောက်ပစ်နိုင်ပါတယ် ဗိုလ်ချုပ်ကြီး၊ ရုရှားတပ်ဗိုလ်တစ်ယောက်အနေနဲ့ ကျွန်တော် တာဝန်ခံ ရဲပါတယ်"

"နေစမ်းပါဦး၊ ကိုရင်က ဒုဗိုလ်ချုပ်ကြီး အင်ဒရီ ဗစ် ဒင်နီဆော့ဗ်နဲ့ ဘာတော်သလဲ" ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်က ကြားဖြတ်၍ မေးလိုက်သည်။

“မှန်ပါ၊ တူဝရီးတော်ပါတယ် ဗိုလ်ချုပ်ကြီး”

“အိမ်း ကိုရင်ရဲ့ ဦးရီးတော်နဲ့တော့ ရောင်းရင်း ကြီးတွေပဲကွယ့်၊ ကောင်းပြီ ကောင်းပြီ၊ ငါ့ဌာနချုပ်မှာ  တစ်ရက်တန်သည်၊ နှစ်ရက်တန်သည် နေသေးတာပ။ မနက်ဖြန်ကျမှ အေးအေးဆေးဆေး စကားပြောကြဦးစို့”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ဒင်နီဆော့ဗ်ကို ခေါင်းညိတ်နှုတ်ဆက်လိုက်ပြီး နောက် ဗိုလ်ချုပ်ကြီး ကိုနို နစ်ဆင်ယူလာသည့် စာရွက်စာတမ်းများကို လက်လှမ်း၍ ယူလိုက်သည်။

“အထဲကို ကြွပါလား ကိုယ်တော်ကြီး” တာဝန် ကျ ဗိုလ်ချုပ်ကြီးက မကျေမနပ်ဖြစ်သည့် အသံမျိုးဖြင့် ပြောလိုက်၏။ “တင်ပြထားတဲ့ စစ်ဆင်ရေး စီမံကိန်းတွေ ကလဲ တစ်ထပ်ကြီးရှိသေးတယ် ကိုယ်တော်ကြီး၊ လက် မှတ်ထိုးဖို့ စာရွက်စာတမ်းတွေကလဲ အများကြီး”

ထိုအခိုက် တပ်ရေးဗိုလ်တစ်ယောက် ရောက်လာ ကာ အခန်းထဲတွင် အားလုံး အဆင်သင့် ဖြစ်ကြောင်းဖြင့် လာရောက်ပြောဆိုလေသည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် အလုပ်ကိစ္စများမပြီးမချင်း အခန်းထဲသို့ ဝင်လိုဟန်မရှိဘဲ မျက်နှာကို ရှုံ့လိုက်၏။

“ကိစ္စမရှိဘူး အပြင်မှာပဲနေမယ်၊ စားပွဲလေး တစ်လုံး အထုတ်ခိုင်းလိုက်စမ်း၊ ဒီအလုပ်ကိစ္စတွေကို အခန်းထဲ ယူမသွားချင်ဘူး” ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ပြောလိုက်၏။ “အို နေပါဦးလေ၊ မင်းသားကလေး”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ဗိုလ်ချုပ်ကြီးကိုနိုနစ် ဆင်၏အစီရင်ခံစာကို နားထောင်နေသည့် မင်းသား ကလေး အင်ဒရေဘက်သို့ လှည့်၍ ပြောလိုက်သည်။

ဤသို့နားထောင်လျက်ရှိစဉ် အခန်းထဲမှ မိန်းမသံ တစ်သံနှင့် ပိုးဝတ်စုံတရွှမ်းရွှမ်း မြည်သံကို မင်းသားကလေး အင်ဒရေ ကြားလိုက်ရသည်။ မင်းသားကလေးအင်ဒရေသည် အခန်းဆီသို့ လှမ်းကြည့်လိုက်၏။ ပန်းနုသွေးဝတ်စုံ ကို ဝတ်လျက် ခေါင်းတွင်

မရန်းစေ့ရောင်ပဝါကို စည်း ထားသည့်မိန်းမတစ်ဦးကို မြင်ရသည်။ ထိုမိန်းမမှာ နွဲ့ နှောင်း ကြော့ရှင်းသော ကိုယ်ဟန်၊ နှင်းဆီသွေးစို့လျက်ရှိ သောမျက်နှာရှိ၍ အလွန်ချောမောလှပ သော မိန်းမတစ် ယောက်ဖြစ်၏။ ၎င်းသည် လက်ထဲတွင် လင်ပန်းတစ်ချပ် ကို ကိုင်ကာ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်အား အခန်းဝမှ ရပ်စောင့်လျက် ရှိလေသည်။ ထိုမိန်းမမှာ အိမ်ရှင် ခရစ်  ယာန်သင်းအုပ်ဆရာ၏ မိန်းမဖြစ်၍ ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်အား ပေါင်မုန့်နှင့် ဆား[2]ပေးရန် စောင့်ဆိုင်းနေခြင်း ဖြစ်သည်ဟု တပ်ရေးဗိုလ်တစ်ယောက်က မင်းသားကလေး ( အင်ဒရေကို ပြောပြ၏။

"သူ့ယောက်ျား သင်းအုပ်ဆရာကတော့ ကိုယ် တော်ကြီးကို သုဓမ္မာဇရပ်မှာ ညှော်ခံ ပြီးပြီခင်ဗျာ၊ ခု သူ့ မိန်းမက အိမ်မှာ ညှော်ဝတ်ပြုဦးမယ်လေ၊ မချောဘူးလား ဗိုလ်မှူး"

တပ်ရေးဗိုလ်က ပြုံး၍ပြောလိုက်သည်။ ထိုစကား များကြောင့် ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်သည် `လှမ်းကြည့် လိုက်၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် လွန်ခဲ့ သော ခုနစ်နှစ် ဩစတားလစ်တိုက်ပွဲ ဖြစ်စဉ်က စစ်ဦးစီး ချုပ်များ၏အရေးပေါ်အစည်းအဝေး တွင် တင်ပြသော အစီ ရင်ခံစာများကိုလည်းကောင်း၊ ခပ်စောစောက ဒင်နီဆော့ဗ် ၏အစီရင်ခံချက်များကိုလည်းကောင်း နားထောင်ခဲ့သည့် နည်းတူ ယခုအချိန်၌လည်း ဗိုလ်ချုပ်ကြီး ကိုနိုနစ်ဆင် တင်ပြသော အစီရင်ခံချက်များကို စိတ်ဝင်စားခြင်း အလျဉ်း မရှိဘဲ နားထောင်လျက်ရှိ၏။ ဗိုလ်ချုပ်ကြီးကိုနိုနစ်ဆင်၏ အစီရင်ခံချက်မှာ ဇာရီဗိုဇေမစ်ရှေ တပ်စခန်း အခြေအနေ ကို တစ်ဖန်သုံးသပ်ထားသော အစီရင်ခံချက်ဖြစ်လေ သည်။ ဗိုလ်ချုပ်ကြီး ကူတူဝေ့ဗ်မှာ (နားတစ်ဖက် လေး လျက်ရှိသော်လည်း) နားနှစ်ဖက် အစုံရှိ သေးသောကြောင့် နားထောင်နေရခြင်းဖြစ်ဟန်တူလေသည်။ ဗိုလ်ချုပ်ကြီး ကိုနိုနစ် ဆင်၏အစီရင်ခံချက်သည် မိမိအား အံ့ဩခြင်း၊ စိတ်ဝင်စားခြင်း ဖြစ်ရန် မတတ်စွမ်းနိုင်။ မိမိသည် ဗိုလ် ချုပ်ကြီး ကိုနိုနစ်ဆင် တင်ပြမည့်အချက်များကို ကြိုတင် သိမြင်ပြီး ဖြစ်သည်ဟူသောသဘောမျိုးကိုလည်း ၎င်း၏ အမူအရာက ဖော်ပြလျက် ရှိ၏။ ၎င်း၏အစီရင်ခံချက်ကို ကြားနာနေရခြင်းမှာလည်း ကြားနာလို၍မဟုတ်။ လူတစ် ယောက်သည် ဘုရားရှိခိုးသံကို မလွှဲသာ၍ နားထောင် နေရသည့်နည်းတူ ဗိုလ်ချုပ်ကြီး

ကူတူဇော့ဗ်သည်လည်း ဗိုလ်ချုပ် ကိုနိုနစ်ဆင်၏အစီရင်ခံချက်ကို မကောင်းတတ် ၍ နားထောင်နေခြင်းဖြစ်ဟန်တူလေသည်။ ဒင်နီဆော့ဗ် တင်ပြသည့်အချက်များသည် ကျွမ်းကျင်လိမ္မာ၍ အမြော် အမြင်ရှိသောတင်ပြချက် ဖြစ်ပါသည်။ ဗိုလ်ချုပ်ကြီး ကိုနိုနစ်ဆင်၏တင်ပြချက်မှာ ထို့ထက်ပင်ပို၍ ဉာဏ် အမြော်အမြင်ရှိသောတင်ပြချက်ဖြစ်ပါသည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်၏အမူအရာမှာ ကျွမ်းကျင်လိမ္မာ ခြင်း၊ ဉာဏ် အမြော်အမြင်ရှိခြင်းစသည့် အရာတို့ကို စက် ဆုပ်ရွံမုန်းသော အမူအရာမျိုး ဖြစ်လေသည်။ ဤကိစ္စ၌ ကျွမ်းကျင်လိမ္မာခြင်း၊ ဉာဏ်အမြော်အမြင်ရှိခြင်းတို့သည် ပြဿနာကို ပြေလည်အောင်ဖြေရှင်းခြင်း မပြုနိုင်ဟု ယူဆ ဟန်လက္ခဏာ ရှိလေသည်။ မင်းသား ကလေးအင်ဒရေ သည် စစ်သေနာပတိချုပ်၏မျက်နှာကို စေ့စေ့ကြည့်နေမိ သည်။ ထိုအခါ၌ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ မျက်နှာ တွင် ထင်ရှားစွာပေါ်လျက်ရှိသော အမူအရာတစ်ခုကို မင်း သားကလေးအင်ဒရေ သတိပြုမိသည်။ ထိုအမူအရာကား အခြား မဟုတ်။ တံခါးနောက်ကွယ်မှ တတွတ်တွတ်ပေါ် ထွက်လျက်ရှိသော မိန်းမသံကို စိတ်ဝင်စားလျက်ရှိခြင်း၊ ထိုမိန်းမ၏ဧည့်ဝတ်ပြုမှုကို ခံယူရန် စိတ်စောလျက်ရှိခြင်း စ သည့် အမူအရာများပေတည်း။ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ် သည် ကျွမ်းကျင်လိမ္မာခြင်း၊ ဉာဏ်အမြော်အမြင် ရှိခြင်း စသည့် အခြင်းအရာများနှင့် တကွ ဒင်နီဆော့ဗ်၏ ဇာတိ သွေး ဇာတိမာန်ထက်သန်ခြင်း စသည်တို့ကို မုန်းတီးစက် ဆုပ်ဟန် ရှိသော်လည်း ပင်ကိုယ် စရိုက်ကြောင့် မုန်းတီး တတ်ခြင်းမျိုးမဟုတ်ဘဲ (၎င်းကိုယ်တိုင် ဤသို့သောအခြင်း အရာများကို တစ်ခါမျှ ပြသလေ့မရှိပါ။) အသက်ကြီး လာခြင်း၊ ဘဝအတွေ့အကြုံ ရင့်ကျက်လာခြင်းတို့ကြောင့် အလုပ်ပိုတွေဟု ထင်မှတ်ကာ ရွံ့မုန်းခြင်းမျိုးဖြစ်လေသည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် အစီရင်ခံချက်ကို ကြားနာ လျက်ရှိစဉ် တစ်လုံးတစ်ပါဒမျှလည်း ဝင် ရောက် ပြောဆို ခြင်း မပြုချေ။ ရုရှားတပ်များက ကျေးရွာများကို ဝင်လုသည့် ကိစ္စသို့ ရောက်လာသည့်အခါကျမှသာ တစ်ခွန်းနှစ်ခွန်း ဝင်ရောက်ပြောဆိုခြင်း ပြုလေသည်။ အစီရင်ခံချက်ကို တင်ပြပြီးနောက် ဗိုလ်ချုပ်ကြီးကိုနိုနစ်ဆင်က စစ်သေနာ ပတိချုပ် လက်မှတ်ရေးထိုးရန် စာရွက်တစ်ရွက်ကို ထိုးပေး လိုက်သည်။ ထိုစာရွက်မှာ ရုရှားတပ်

များက မြင်းစားဂျုံ များ ရိတ်သွားကြသဖြင့် မြေရှင်များက တပ်မှူးများထံ လျော်ကြေး တောင်းသည့်လျှောက်လွှာ ဖြစ်၏။

စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် ထိုကိစ္စကို ကြားနာပြီးနောက် နှုတ်ခမ်းကို ကိုက်၍ ခေါင်းယမ်းလိုက် သည်။

"သွား သွား၊ ကျုပ် လက်မှတ်မထိုးနိုင်ဘူး၊ လျော်ကြေးတောင်းတဲ့လျှောက်လွှာဆို ရင် နောင် ကျုပ်ဆီ ဘယ်တော့မှ မယူခဲ့နဲ့၊ မီးပုံထဲ ထည့်ပစ်လိုက်၊ မီးရှို့ပစ် လိုက်၊ ကျုပ် တပ်သားတွေကို ဘာမှ မချုပ်ချယ်နဲ့၊ ကောက်နှံတွေကြိုက်သလောက်ရိတ်ပစေ၊ သစ်တောတွေ ကိုလဲ ကြိုက်သလောက်ခုတ်စမ်းပစေ၊ ဒါမျိုးတွေကို ကျုပ် မကြိုက်ပါဘူး၊ ဒါပေမဲ့ လျော်ကြေးတော့ မပေးနိုင် ဘူး၊ တစ်ပြားဆို တစ်ပြားမှ မပေးနိုင်ဘူး၊ စစ်ဖြစ်နေ တယ် ဗျ၊ စစ်ဖြစ်နေတယ်၊ စစ်ဖြစ်နေတုန်းမှာ ဒီလောက်တော့ အပျက်အစီးရှိကြမှာပေါ့၊ သစ်ပင်ကြီးကို ခုတ်နေတုန်းမှာ သစ်သားစ စင်မှာကို စဉ်းစားမနေနိုင်ဘူး"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် စာတစ်ရွက်ကို ကြည့်လိုက်ပြန်သည်။

"ဟင်း၊ လာပြန်ပြီ၊ ဂျာမန်တိကျသေချာမှု၊ ဒီဂျာမန် ကောင်တွေကိုက နေရာတကာ တိကျလွန်းတယ်၊ ထွာ"

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ဤသို့ဆိုကာ ခေါင်း ကို ယမ်းလျက် ရှိပေသည်။

# အခန်း ၁၆

"က် နောက်ထပ် လက်မှတ်ထိုးစရာ ရှိသေးလား" ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ်သည် နောက်ဆုံးစာရွက်တစ်ရွက်ကို လက်မှတ်ထိုးလိုက်ပြီးနောက် လေးကွေးစွာ ထိုင်ရာမှ ထ လိုက်၍ ဖြူဖွေး၍ အစ်အစ်ကြီးဖြစ်နေသော လည်ကုပ်ပေါ်မှ အစင်းများကို ပွတ်သပ်ရင်း ရွှင်မြူးသောမျက်နှာထားဖြင့် အခန်းတံခါးဆီသို့ လျှောက်သွားလေသည်။

သင်းအုပ်ဆရာ၏ မိန်းမသည် ခပ်စောစောက တည်းကပင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ကို စောင့်ဆိုင်းလျက် ရှိသော်လည်း ရုတ်တရက် မလာနိုင်သည့်အတွက် ပေါင် မုန့်နှင့် ဆားထည့်ထားသောလင်ပန်းပြားကို ချထားရာမှ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် ထလာသည်ကို မြင်သည်၌ မျက်နှာတွင် ရှက်သွေးဖြန်းလျက်ရှိရင်း လင်ပန်းကို ကောက် ယူလိုက်ကာ ခေါင်းကိုညွှတ်၍ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ လက်သို့ ကမ်းလိုက်သည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မျက်လုံးများကို မှေး၍ကြည့်ကာ သင်းအုပ်ဆရာမိန်းမ၏မေးဖျားကို ဆွဲ၍ မော့ယူလိုက်သည်။

“အလို၊ ကျုပ်နှမကဖြင့် မြင်သူငေးအောင် လှပါ ပေတယ်ဗျာ၊ အိမ်း ခုလို ဧည့်ခံတဲ့ အတွက် ကျေးဇူးပါပဲ ဗျာ၊ ကျေးဇူးပါပဲ၊ ဟဲ ဟဲ”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ဘောင်းဘီအိတ် ထဲမှ ရွှေဒင်္ဂါးများကိုထုတ်၍ လင်ပန်းထဲသို့ ထည့်လိုက် ၏။

“ဘယ့်နှယ်လဲ နှမလေးရဲ့၊ မောင်ကြီးတို့အတွက် အိပ်ရာနေရာကလေးများ ပြင်ပြီးပ လား”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ပြောပြောဆိုဆို မိမိအတွက်ပြင်ဆင်ထားသော အခန်းဆီသို့ လျှောက်လာ ခဲ့လေသည်။ သင်းအုပ်ဆရာ၏ မိန်းမသည်လည်း နီမြန်း သော ပါးပြင်တွင် ပါးချိုင့်ကလေးများပေါ်အောင် ပြုံးရင်း ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်နောက်မှ အခန်းထဲသို့ လိုက်ပါ သွားလေသည်။ တပ်ရေးဗိုလ်သည် စမုတ်ဆောင်သို့ ထွက် လာကာ မင်းသားကလေးအင်ဒရေအား ၎င်းနှင့်အတူ နေ့လယ်စာစားရန် ဖိတ်ခေါ်ခြင်းပြုသည်။ နာရီတစ်ဝက် ခန့်ကြာသောအခါ မင်းသားကလေးအင်ဒရေအား ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်က အခေါ်လွှတ်လိုက်လေသည်။ ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်သည် အင်္ကျီရင်ဘတ်မှ ကြယ်သီးကို ဖြုတ်ထားဆဲပင်ရှိလျက် လက်တင်ထိုင်ဖုံတစ်ခုတွင် ထိုင် နေသည်ကို တွေ့ရ၏။ လက်ထဲတွင် ပြင်သစ်စာအုပ် တစ်အုပ်ကို ကိုင်ထားရာမှ မင်းသားကလေးအင်ဒရေ ရောက်လာသောအခါတွင် စာအုပ်ကြားထဲ၌ သားလှီးဓား တစ်ချောင်းညှပ်၍ ပိတ်ထား

လိုက်သည်။ ထိုစာအုပ်ကား ပြင်သစ်စာရေးဆရာမ မဒမ်ဒီဂျင်လေရေးသည့် ဝတ္ထု စာအုပ်တစ်အုပ်ဖြစ်၏။

"လာ လာ ထိုင်ဟော့၊ စကားစမြည်လေး ပြောကြ ရအောင်" ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်က ပြောလိုက်သည်။ "ကြားရတာ စိတ်မကောင်းလိုက်ပါဘိတော့ကွယ်၊ အေး လေ တရားနဲ့ ဖြေပေါ့၊ ငါ့ကိုလဲ ခမည်းတော်လို သဘော ထား၊ ကြားလား၊ ဒုတိယအဖေပေါ့ ကွယ်" ။

မင်းသားကလေးအင်ဒရေက ၎င်း၏ခမည်းတော် ကံတော်ကုန်ပုံကို ကြားသိရသလောက်ပြောပြကာ တောင်  ကတုံးကို မိမိကိုယ်တိုင်သွားရောက်ကြည့်ရှုစဉ်က မြင်ခဲ့ ရပုံများကိုလည်း ပြောပြလေသည်။

"တောက် ရိုင်းလိုက်လေကွယ်" ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က မင်းသားကလေး အင်ဒရေ ပြောပြသည့် အတွက် ရုရှားပြည်ကြီး၏အခြေအနေကို ပြက်ပြက်ထင် ထင် သိမြင်လာသကဲ့သို့ မကျေမချမ်းဖြင့် ပြောလိုက်သည်။ "ငါ့ကို အချိန်ပေးစမ်းပါ၊ အချိန်သာ လုံလောက်အောင် ပေးစမ်းပါ၊ ဒီကောင်တွေကို လက်စားချေပြပါ့မယ်"

ထို့နောက် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မျက်နှာ ထားသုန်မှုန်လျက်ရှိကာ စိတ်မချမ်းသာဖွယ်ကောင်းသော ဤစကားများကို နောက်ထပ်မပြောလိုတော့ဟန်ဖြင့် စကားလွှဲကာ

"ကိုရင်ကလေးကို ခေါ်တဲ့ကိစ္စကတော့ ဌာန ချုပ်မှာ ထားဖို့ပဲကွ"

"ကျေးဇူးတင်ပါတယ် ဗိုလ်ချုပ်ကြီး၊ ဒါပေမဲ့ ကျွန်တော်ဟာ စစ်ဦးစီးဌာနချုပ်နဲ့ မသင့်လျော်တော့ဘူး ထင်ပါတယ်" မင်းသားကလေး အင်ဒရေက ခပ်ပြုံးပြုံး ဖြင့် ပြန်ပြောလိုက်သည်။ ထိုအပြုံးကို ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ကလည်း သတိထားလိုက်မိသည်။

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသားကလေး အင်ဒရေအား စိုက်၍ကြည့်နေ၏။

"ဒီလိုရှိပါတယ် ဗိုလ်ချုပ်ကြီး" မင်းသားကလေး အင်ဒရေက ဆက်ပြောလိုက်သည်။ "ကျွန်တော့်မှာ ကျွန် တော့်တပ်ရင်းနဲ့ သိပ်ပြီး အဆင်ပြေနေပါတယ်၊ ကျွန်တော် ကလဲ

တပ်ဗိုလ်တပ်သားတွေကို တော်တော်သံယောဇဉ် တွယ်နေမိပါပြီ၊ သူတို့ကလဲ ကျွန်တော့် အပေါ်မှာ တော် တော်လေး နှစ်သက်နေကြတယ်လို့ ထင်ပါတယ်၊ ဒီတော့ ကျွန်တော့်တပ် နဲ့ ကျွန်တော် မခွဲချင်လောက်အောင် ဖြစ် နေပါတယ်။ ခုလို ဗိုလ်ချုပ်ကြီးက ချီးမြှင့် မြှောက်စား တာကို ငြင်းပယ်ရခြင်းကလဲ" ၊ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ဝိုင်းစက်သော မျက်နှာ ကြီးပေါ်၌ ကြင်နာသက်သွားသည့် အရိပ်အယောင်များ ပေါ်လာလေသည်။ သို့ရာတွင် မသိမသာလှောင်ပြောင် သည့်အမူအရာသည်လည်း ဝိုးတဝါးပေါ်လျက်ရှိ၏။ ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ်ကကြားဖြတ်၍ပြောလိုက်သည်။

"အိမ်း၊ စစ်ဦးစီးဌာနချုပ်ကို မလာချင်ဘူးဆိုရင်လဲ အင်ဒရေကြီး ကူတူက်မိသည်။

ငါ့အနေနဲ့တော့ စိတ်မကောင်းဘူးပေါ့လေ၊ ငါ့အနားမှာ ကိုရင်ကလေးလို လူတော် လူကောင်းတွေ ရှိစေချင်တယ်၊ အေးလေ တစ်နည်းအားဖြင့်ကြည့်ရင် ကိုရင်ကလေးပြော တာလဲ မှန်ပါပေတယ်၊ မှန်ပါပေတယ်၊ စစ်ဦးစီးဌာနချုပ် ဆိုတာ လူတော်လူကောင်း မလို ပါဘူး၊ စစ်ဦးစီးဌာနချုပ် ဆိုတာ လူတွေနေတဲ့နေရာ မဟုတ်ဘူး၊ အကြံပေးအရာရှိ ဆိုတဲ့ တတ်ယောင်ကားကောင်တွေနေတဲ့ နေရာပဲ၊ ခက် တာက တို့ရဲ့ တပ်မတော်ထဲမှာ လူ တော်လူကောင်းရှားပြီး အကြံပေးပုဂ္ဂိုလ်ဆိုတဲ့အကောင်တွေက များနေတယ်၊ တပ် ရင်း တွေမှာ ကိုရင်ကလေးတို့လို လူတော်လူကောင်းတွေ မအုပ်ချုပ်ဘဲ အကြံပေးအရာရှိတွေ ကို အအုပ်ချုပ်ခိုင်းရင်လဲ တပ်တွေမှာ ဒီလောက်အခြေအနေကောင်းမှာ မဟုတ်ဘူး၊ ငါ ကတော့ ဩစတားလစ်တိုက်ပွဲတုန်းက စစ်တံခွန်ကိုင် ပြီး ရှေ့ဆုံးကတက်သွားတဲ့ ကိုရင် ကလေးကို မြင်ယောင် နေတာပဲ၊ မျက်စိထဲက မထွက်တော့ဘူး"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏မျက်နှာမှာ ဩစတား လစ်တိုက်ပွဲအကြောင်းကိုပြော ရင်း ကြည်နူးလာဟန်ဖြင့် မျက်နှာနီရဲလာ၏။ ထိုကြည်နူးခြင်းသည် မင်းသားကလေး အင် ဒရေကိုပါ ကူးစက်သွားလေသည်။

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသားကလေး အင်ဒရေ၏လက်ကိုဆွဲ၍ ကိုယ်ကို ညွှတ်စေပြီးနောက် ၎င်း၏ပါးကို ထိုးပေး၍ နမ်းရှုပ်နှုတ်ဆက်စေ၏။ ၎င်း၏ မျက်လုံးတွင် မျက်ရည်များ ရစ်ဝဲလျက်ရှိခြင်းကို မင်းသား ကလေးအင်ဒရေ သတိထားလိုက်မိသည်။ ကူ

တူဇော့ဗ် သည် မျက်ရည်လွယ်သူတစ်ယောက်ဖြစ်လျက် ခမည်း တော်ကြီး ကံတော်ကုန်ခြင်းကြောင့် မိမိအပေါ်၌ အထူး အခွင့်အရေးပေးနေခြင်းဖြစ်သည်ဟု မင်းသားကလေးအင် ဒရေသိသော်လည်း ဩစတားလစ်တိုက်ပွဲအကြောင်းကို ပြောလိုက်သည့်အခါ၌ မင်းသားကလေးအင်ဒရေမှာ စိတ် ထဲတွင် ကြည်နူးကာ သွေးကြီးသွားမိသေးသည်။

“အေးလေ၊ ကိုရင်ကလေးက စစ်ဦးစီးဌာနချုပ်ကို မလာချင်ဘဲ စစ်မြေပြင်ကို ထွက်ချင်တယ်ဆိုရင်တော့ သဘောပေါ့။ အမှန်ကတော့ စစ်မြေပြင်ထွက်ရတာကပဲ ကောင်းပါတယ်၊ ဒါမှ သူရဲကောင်းပီသပြီး ဂုဏ်သိက္ခာရှိ ပေတာပဲ၊ သူရဲကောင်းတို့မည်သည် စစ်မြေပြင်မှာ သေ စမြဲပဲ ” ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ရပ်လိုက်သည်။

“ဘူခါရက်တုန်းကလဲ ကိုရင်ကလေး ပြန်သွား တော့ ငါ့အနားမှာ ကိုရင်ကလေးလို လူတော်လူကောင်း တွေရှိရင် ဘယ်လောက်ကောင်းမလဲလို့ တောင့်တမိတယ်”

ထို့နောက် ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် စကား လမ်းကြောင်းပြောင်းကာ တူရကီစစ်ပွဲနှင့် ငြိမ်းချမ်းရေး စာချုပ် ချုပ်ဆိုသည့်ကိစ္စများကို ပြောဆိုနေပြန်သည်။

“အိမ်း တူရကီနဲ့ စစ်ဖြစ်တုန်းကရော၊ စစ်ပြေငြိမ်း ရေးလုပ်တုန်းကရော ငါ့ကို အပြစ်တင်ခဲ့ကြတယ်၊ ဒါပေမဲ့ အချိန်တန်တော့ ငါတို့ပဲ အောင်ပွဲရခဲ့တယ် မဟုတ်လား၊ “အခါအခွင့်ကို စောင့်တတ်သူတစ်ဦးအဖို့ အရာခပ်သိမ်း တို့သည် အချိန်မီရောက်လာကြသည်” ဆိုတဲ့ ပြင်သစ် စကားပုံလဲ ရှိတယ် မဟုတ်လား၊ အဲဒီတုန်းကလဲ ခုလိုပဲ ငါ့အနားမှာ အကြံပေးအရာရှိတွေ တစ်လှေကြီး ရှိခဲ့တာပဲ။ ရိုက်သတ်လို့တောင် မကုန်ဘူး”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ၎င်း၏စိတ်ကို အနှောင့်အယှက် ပေးလျက်ရှိသော “အကြံပေးအရာရှိ” ဆိုသူများကိစ္စကို ဆက်လက်ပြောနေပြန်သည်။

“ငါ့မှာလဲ အကြံပေးအရာရှိတွေကြောင့် တစ်မှောင့် ပဲကွ၊ ဒီကောင်တွေစကားသာ နားထောင်ရရင် တူရကီစစ်ပွဲ ဟာ ခုထက်ထိ ပြီးမှာ မဟုတ်သေးဘူး၊ တို့များလဲ တူရကီပြည်ထဲမှာ ရှိနေကြဦးမှာပဲ၊ အကြံပေးအရာရှိဆိုတဲ့ အကောင်တွေဟာ ဘာမှ အလုပ်မလုပ်ဘဲ စကားများဖို့ လောက် တတ်ကြတာပဲကွ၊ လုပ်လိုက်ရင်လဲ သောက်တလွဲ ချည်းပဲ၊

ဘာမှ ထိထိရောက်ရောက်မရှိဘူး၊ ကာမင်စကီ ဆိုတဲ့ဗိုလ်ချုပ်လဲ မြန်မြန်သေသွားတာပဲ ကောင်းတယ်၊ မသေရင် အရှက်တကွဲအကျိုးနည်းဖြစ်ပြီး ရန်သူ့လက်ချက် နဲ့ သေရမှာပဲ၊ ဘာထူးသေးသလဲ၊ ဘယ့်နှယ်ဗျာ ရန်သူက တပ်ကြီးတပ်ခိုင်တည်ထားတဲ့နေရာကို စစ်သားလေး သုံး သောင်းလောက်နဲ့ ဝိုင်းတိုက်သတဲ့ကွ၊ ရန်သူခံတပ်တစ်တပ် ကို ဝင်စီးရတဲ့ကိစ္စဟာ မခက်ပါဘူးကွ၊ စစ်ပွဲကြီးတစ်ခု လုံးကို နိုင်အောင်တိုက်ဖို့ကိစ္စကသာ ခက်တာပါ၊ စစ်ပွဲ တစ်ပွဲကို နိုင်ဖို့ကိစ္စဟာ ရှေ့လောတကြီး စုပြုံတိုက်စစ် ဆင်နိုင်ခြင်းအပေါ်မှာ မတည်ဘူးကွ မှတ်ထား၊ စစ်ပွဲ တစ်ပွဲကို နိုင်ရေးဟာ စိတ်ရှည်ခြင်းနဲ့ အချိန်အခါကို ရွေးချယ်တတ်ခြင်းအပေါ်မှာသာ တည်တယ်၊ ကိုရင်တို့ ဗိုလ်ချုပ်ကာမင်စကီဟာ စစ်သည်အင်အားများစွာနဲ့ တူရကီ ခံတပ်ကို တိုက်ခဲ့ပေမယ့် အောင်ပွဲရခဲ့သလား၊ မရခဲ့ဘူး၊ ငါက သူ့လို စစ်သည်အင်အားအများကြီးနဲ့ မတိုက်ဘဲ စိတ်ရှည်ခြင်းနဲ့ အချိန်အခါကို ရွေးချယ်တတ်ခြင်းဆိုတဲ့ လက်နက်နှစ်ခုတည်းနဲ့ တိုက်ခဲ့တယ်၊ ကိုရင်တို့ တူရကီ တွေ ခံနိုင်သေးရဲ့ လား၊ သင်းတို့ခံတပ်တွေ တစ်ခုပြီး တစ်ခုကျပြီး သင်းတို့တစ်တွေ မြင်းသားပုပ် စားရတဲ့ဘဝ ရောက်ခဲ့တယ် မဟုတ်လား”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ခေါင်းကို ယမ်းလိုက်၏။ ထို့နောက် စိတ်အားထက်သန်စ ပြုလာ ကာ ရင်ဘတ်ကို ထုလိုက်လျက် ရှိ

”ဟော့ ဒီမှာကွ သင်းတို့ ပြင်သစ်ကောင်တွေကော ဘာသားနဲ့ ထုထားတာမို့လဲ၊ သင်းတို့လဲ မြင်းသား ပုပ်ကို စားရစေမယ် သိလား၊ သင်းတို့လဲ မြင်းသားပုပ်ကို စားရ စေ့မယ်”

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်၏မျက်လုံးတွင် မျက်ရည် တို့ရစ်ဝဲလျက်ရှိ၏။

“ဒါပေမဲ့ တပ်မတော်ကြီးတစ်ခုလုံးက လောလော ဆယ် တိုက်ချင်နေကြတယ် ဗိုလ်ချုပ်၊ အချိန်ဆွဲ မနေချင် ကြဘူး” မင်းသားကလေးအင်ဒရေက ပြော၏။

“အိမ်း၊ တပ်ဗိုလ်တွေ တပ်သားတွေအားလုံးက လောလောဆယ် ရင်ဆိုင်တိုက်ပွဲ တိုက်ချင်တယ်ဆိုရင် တော့ တိုက်ရမှာပလေ၊ ဘယ်ရှောင်လို့ ရမလဲ၊ ဒါပေမဲ့ ငါပြောမယ် ကိုရင်လေး၊ စစ်ပွဲတစ်ပွဲမှာ စစ်သေနင်္ဂဗျူဟာ စီမံကိန်းတွေ ဘယ်လောက်ပဲ ကောင်းကောင်း စစ်သည် အင်အား ဘယ်လောက်ပဲများများ ဒါတွေက အကြောင်း

မဟုတ်ဘူး၊ အချိန်နဲ့ စိတ်ရှည်ခြင်းကသာလျှင် စစ်ပွဲ တစ်ပွဲမှာ အရာရာကို ဆုံးဖြတ်တယ် မှတ်ထား၊ ဒါပေမဲ့ အကြံပေးအရာရှိဆိုတဲ့ အကောင်တွေဟာ ဒီအချက်ကို သဘောမ ပေါက်ကြဘူး၊ ဒီကောင်တွေဟာ နားနဲ့ နား မထောင်ကြဘူး၊ အဲဒါ အခက်ဆုံးပဲ၊ တစ် ယောက်က စီမံကိန်းတစ်မျိုး၊ တစ်ယောက်က စီမံကိန်းတစ်မျိုးနဲ့ စီမံကိန်းဆွဲတမ်း ကစား နေကြတာပဲ၊ ကဲ ဒီတော့ လက်တွေ့ လုပ်ရတဲ့တို့များက ဘာလုပ်ရတော့မလဲ"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသားကလေး အင်ဒရေထံမှ အဖြေတောင်းသည့် အနေဖြင့် မေးလိုက်၏။

"ဒီလောက် စီမံကိန်းတွေများနေရင် တို့များ ဘာ လုပ်ရမလဲဟင်"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ဆက်၍မေးလိုက် ၏။ ၎င်း၏အကောင်းပကတိကျန် သော မျက်လုံးတစ်ဖက် သည် တလက်လက်တောက်လျက် ရှိ၏။

"မှတ်ထား၊ အကြံပေးအရာရှိဆိုတဲ့အကောင်တွေ ရွှေဉာဏ်တော်စူးရောက်တိုင်း သူ တစ်မျိုး ငါတစ်ဖုံ အကြံ ဉာဏ်တွေ ပေးနေကြရင် ဘာလုပ်ရမလဲ၊ ငါလဲ ဘာလုပ် သလဲဆို တာကို ငါပြောပြမယ် နားထောင်၊ အကြံဉာဏ် တွေများနေလို့ ဘာလုပ်ရမှန်း မသိရင်"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က စကားကို ဖြတ်ထား လိုက်၏။

"ဘာမှမလုပ်နဲ့၊ ဒီအတိုင်းသာ ပစ်ထားလိုက်၊ အဲဒါ အမှန်ဆုံးနည်းပဲကွ သိလား၊ သံသယဖြစ်ရင် ဘာမှ မလုပ် ပါနဲ့ဆိုတဲ့ ပြင်သစ်စကားပုံရှိတယ် မဟုတ်လား"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ပြင်သစ်စကားပုံကို တစ်လုံးချင်း ပီပီသသကြီး ရွတ်ပြ လိုက်၏။

"ကဲ သွားပေတော့ ကိုရင်လေး၊ ကိုရင်လေး ခမည်းတော်ကြီးအတွက် ငါလဲ စိတ်မ ကောင်းပါဘူးကွာ၊ အဲငါ့ကိုတော့ စစ်သေနာပတိချုပ်လို့လဲ သဘောမထားနဲ့၊ မင်းသားကြီး လို့လဲ သဘောမထားနဲ့ ၊ အဖေတစ်ယောက် လို့ သဘောထား၊ ဟုတ်စ၊ အကြောင်း ကိစ္စကြီးငယ်ရှိရင် လဲ ငါ့ဆီ အချိန်မရွေး လာပြောလှည့်၊ ဟုတ်စ၊ ကဲ ကဲ သွားတော့"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မင်းသားကလေး အင်ဒရေကို နောက်ဆုံးအကြိမ် ပွေ့ဖက်နူတ်ဆက်ပြန်သည်။ မင်းသားကလေးအင်ဒရေ အခန်းထဲမှထွက်ခွာမသွားမီမှာပင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ယခုမှ အေးအေးဆေး ဆေးနေရတော့သည်ဟူသော သဘောဖြင့် သက်ပြင်းကြီး ချလိုက်ပြီးနောက် စောစောကဖတ်လက်စ ပြင်သစ်ဝတ္ထု ကို ဆက်၍ ဖတ်လျက် ရှိလေသည်။

ဗိုလ်ချုပ်ကြီး ကူတူဇောဗ်နှင့်တွေ့ဆုံပြီးနောက် တပ် ရင်းသို့ ပြန်ရောက်သည့် အခါ၌မူကား မင်းသားကလေး အင်ဒရေ၏စိတ်၌ တစ်မျိုးတစ်ဖုံ ပြောင်းလဲခဲ့လေပြီ။ ( မင်းသားကလေးအင်ဒရေသည် ဗိုလ်ချုပ်ကြီး ကူတူဇောင်၏ ကွပ်ကဲမှုကိုလည်းကောင်း၊ မိမိတို့၏အောင်ပွဲရမည့်အရေး ကို လည်းကောင်း ယုံကြည်လာခဲ့လေသည်။ မည်သည့် အတွက် ဤသို့ယုံကြည်လာသည်ကိုမူ အကြောင်းရှာ၍ မရချေ။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် သည် စိတ်လိုက်မာန်ပါ ပြောဆိုတတ်သူဖြစ်သည်မှန်၏။ ၎င်း၌ (အဖြစ်အပျက် များကို စုစည်းခြင်း၊ ကောက်ချက်ဆွဲခြင်းစသော) အသိ ဉာဏ်ပညာနည်းပါးသည် မှန်၏။ သို့ရာတွင် ဗိုလ်ချုပ် ကြီးကူတူဇော့ဗ်သည် ကိုယ်ကျိုးစွန့်သူ၊ အဖြစ်အပျက်များ ကို တည်ငြိမ်စွာသုံးသပ်ဆင်ခြင်တတ်သူဖြစ်သည်ဆိုသည့် အချက်ကား ငြင်းမရသောအချက် ဖြစ်လေသည်။ ဤသို့ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်၏ကွပ်ကဲမှုကို ယုံကြည်လာသည် နှင့်အမျှ မိမိတို့အောင်ပွဲရမည်ဟူသော ယုံကြည်ချက်သည် မင်းသားကလေး အင်ဒရေ၏ စိတ်၌ ခိုင်မာသည်ထက် ခိုင်မာလာခဲ့လေသည်။

“ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ဟာ သူကိုယ်တိုင် စီမံ ကိန်းဆွဲတတ်သူတစ်ယောက် မဟုတ်ဘူး၊ သူကိုယ်တိုင် တီထွင်ဖန်တီးတတ်တဲ့ လူမျိုးလဲ မဟုတ်ဘူး” မင်းသား ကလေး အင်ဒရေတွေး၏။ “ဒါပေမဲ့ ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်ဟာ သူများပေးတဲ့ အကြံဉာဏ်တွေ၊ သူများတင်ပြ တဲ့ စီမံကိန်းတွေကိုတော့ လေးလေးစားစား ကြားနာ တတ်တဲ့လူမျိုး ဖြစ်တယ်၊ ကောင်းနိုးရာရာကို ရွေးချယ်ပြီး တိတိကျကျလုပ်တတ်တဲ့လူမျိုး ဖြစ်တယ်၊ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ဟာ နိုင်ငံနဲ့ လူမျိုးအတွက် အသုံးဝင်မယ့်အရာ မျိုးကို နှောင့်ယှက် ဖျက်ဆီးတတ်တဲ့လူမျိုး မဟုတ်ဘူး၊ နိုင်ငံနဲ့ လူမျိုး အန္တရာယ်ဖြစ်စေမယ့်အရာ မျိုးကို လက်ပိုက် ကြည့်နေတတ်တဲ့လူစားမျိုး မဟုတ်ဘူး၊ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ဟာ

ရာဇဝင်အဖြစ်အပျက်များရဲ့ လမ်းကြောင်း နဲ့ ဆန့်ကျင်ပြီး ငါ့လှေ ငါထိုး ပဲခူးရောက် ရောက်ဆိုပြီး ထင်ရာလုပ်မယ့် လူစားမျိုး မဟုတ်ဘူး၊ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ဟာ ရာဇဝင်အဖြစ်အပျက်များရဲ့ လမ်းကြောင်း ကို တွေးခေါ်မြော်မြင်နိုင်စွမ်းရှိသူဖြစ်တယ်၊ ရာဇဝင်အဖြစ် အပျက်များရဲ့ တန်ခိုးအာနိသင်ပုံကိုလဲ သဘောပေါက် သူ ဖြစ်တယ်၊ ဒီလို သဘောပေါက်တဲ့အတွက်ကြောင့်လဲ မိမိစိတ်ဆန္ဒနှင့် မကိုက်ညီသည် မှန်စေ၊ အများရဲ့ သဘော ဆန္ဒ၊ အခြေအနေရဲ့ တောင်းဆိုချက်နဲ့အညီ လိုက်နာ လုပ် ဆောင်သူဖြစ်တယ်၊ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်ဟာ ပြင်သစ် စကားပုံတွေကို ရွတ်၊ ပြင်သစ်ဝတ္ထုတွေကို ဖတ်နေ သူ  ဖြစ်ပေမယ့် သူက ရုရှားလူမျိုးစစ်စစ်ဖြစ်တဲ့အတွက် သူ့ကို အားလုံးက ယုံကြည်ကြ တယ်၊ ပြင်သစ်တွေကို မြင်းသားပုပ် ကျွေးမယ်လို့ ငိုသံပါကြီးနဲ့ ကြိမ်းဝါးပုံ၊ အမျိုးထိလျှင် မချိအောင်နာပုံတွေကို ထောက်ခြင်းအားဖြင့် ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်ဟာ ဇာတိမာန် ထက်သန်သူ ဖြစ်တယ်၊ ဒီအချက်ကိုတော့ လူတိုင်းကလဲ ယုံကြည်တယ်၊ ငါလဲ ယုံကြည် တယ်" ။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်အား စစ်သေနာပတိချုပ် ခန့်အပ်ခြင်းကို ရွှေနန်းတော်ကြီး က များစွာသဘောမကျ လှသော်လည်း အများစုကမူကား ထိုသို့သောအတွေး အမြင်၊ ထိုသို့သောခံစားချက်များဖြင့် လှိုက်လှဲစွာ ထောက် ခံကြလေသည်။

# အခန်း ၁၇

ဘုန်းတော်ကြီးသောဘုရား မော်စကိုမြို့သို့ ကြွရောက် လာစဉ် မော်စကိုမြို့သူမြို့ သားတို့သည် ဇာတိသွေး ဇာတိ မာန်ထက်သန်ခဲ့ကြသော်လည်း ဘုန်းတော်ကြီးသော ဘုရား ပြန်ကြွသွားတော်မူသည့် နောက်၌ကား မော်စကို မြို့သူ မြို့သားတို့၏ဘဝသည် ယခင်ကကဲ့သို့ပင် ပိုနေမြဲ ကျား နေမြဲဘဝသို့ ပြန်ရောက်ခဲ့ကြလေပြီ။ ယခုအချိန်၌ ၎င်းတို့ သည် ပွဲလမ်းသဘင်များသို့ တက်ခြင်း၊ မူးယစ်သောက်စား ခြင်း စသည့် ပျော်ပါးမှု ကြွားဝါ မှုကိစ္စများ၌သာ အချိန် ကုန်လျက်ရှိကာ ဘုန်းတော်ကြီးသောဘုရားရှိစဉ်က ဇာတိ သွေး ဇာတိမာန်ထက်သန်ခဲ့ခြင်းစသည့် အခြင်းအရာများကို မေ့ပျောက်သလောက်ဖြစ်လျက် ရှိ

ကြလေပြီ။ ဘုန်းတော် ကြီးသောဘုရား ရှေ့တော်မှောက်၌ အဖနိုင်ငံတော်ကြီး အတွက် အစစအရာရာကို စွန့်လွှတ်ရန် အဆင်သင့်ရှိ ပါသည်ဟု အာပေါင်အာရင်းသန်သန် ပြောခဲ့သူများမှာ ထိုသူများပင်ဟုတ်ပါလေစဟု တွေးတောစရာ ဖြစ်နေခဲ့လေ ပြီ။ ထိုသူတို့သည် ဘုန်းတော်ကြီးသောဘုရားရှေ့၌ ဇာတိ သွေး ဇာတိမာန်ထက်သန်ခဲ့ကြသလောက် ယခု ထိုဇာတိ သွေး ဇာတိမာန်တို့သည် ပျောက်ကွယ်ခဲ့ကြလေပြီ။ ဇာတိ သွေး ဇာတိမာန် ထက်သန်ခြင်း၏ အရိပ်အယောင်ဆို၍ ယခုအချိန်တွင် တစ်ခုသာကျန်တော့သည်။ ၎င်းမှာ အရေး ပေါ် စစ်သည်များထည့်ဝင်ခြင်းနှင့် စစ်ရန်ပုံငွေများထည့်ဝင် ခြင်းတို့သာလျှင် ဖြစ်၏။ ထိုကိစ္စမှာလည်း ကတိပေးပြီး သည်နှင့် တရားဝင်အကောင်အထည် ဖြစ်အောင် စာချုပ် စာတမ်းနှင့် လွှဲပြောင်းအပ်နှင်းရသည့်ကိစ္စမျိုး ဖြစ်၍ လွဲ ရှောင်မရသောကြောင့် ဤမျှထိ တာရှည်ခံနေခြင်း ဖြစ်လေ သည်။

ရန်သူများမှာ မော်စကိုမြို့အနီးသို့ ချဉ်းကပ်လာခဲ့ ကြလေပြီ။ သို့ရာတွင် မော်စကို မြို့သူမြို့သားများကား အန္တ ရာယ်ကို လေးနက်စွာ ဆင်ခြင်စဉ်းစားခြင်း မပြုကြ ရုံမျှမက ပို၍ပင်ပေါ့ပေါ့လွှင်လွှင်နေထိုင်လျက် ရှိကြလေ သည်။ လူများသည် ကြီးမားသော အန္တရာယ်ကြီးတစ်ခု ချဉ်း ကပ်လာခြင်းကို မြင်ရသည့်အခါ၌ ဤသို့ ပေါ့ပေါ့လွှင်လွှင် နေထိုင်တတ်ကြသည်မှာ ဓမ္မတာဖြစ်လေသည်။ အန္တရာယ် ချဉ်းကပ်လာသည်၌ လူ၏ဝိညာဉ်ထဲမှ အသံနှစ်သံသည် တစ်ခုကို တစ်ခု အားကျမခံ ကျယ်လောင်စွာ စကားပြော လာတတ်လေ့ ရှိ၏။ ပထမအသံသည် အန္တ ရာယ်၏ သဘာဝနှင့်တကွ ထို အန္တ ရာယ်မှ လွတ်မြောက်ရာ လွတ် မြောက်ကြောင်းနည်းလမ်းကို ရှာဖွေရန် ကျိုး ကြောင်း ညီညွတ်စွာ လူကို သတိပေးနှိုးဆော်လေ့ရှိ၏။ ဒုတိယအသံ ကမူ လူသည် လာ လတ္တံ့သောအဖြစ်အပျက်များကို ကြို တင်သိမြင်ခြင်းငှာ မစွမ်း၊ တားဆီးခြင်းငှာလည်း မစွမ်း၊ ရှောင်လွှဲခြင်းငှာလည်း မစွမ်း။ ထိုသို့ မစွမ်းသည့်အလျောက် အန္တရာယ်ကို တွေးတော၍ စိုးရိမ်ပူပန်ရခြင်းသည် ဒုက္ခ ကြီးလှသည်။ ထို့ကြောင့် စိုးရိမ်ကြောင့်ကြခြင်း မရှိဘဲ နောင်ခါလာ နောင်ခါချေးဟု သဘောထားကာ ပျော်ပျော် နေခြင်းသည်သာ အကောင်းဆုံးဖြစ်သည်ဟု ပို၍ပင် ကျိုး ကြောင်းညီညွတ်စွာ တိုက်တွန်းနှိုးဆော်လေ့ရှိ၏။ လူသည် တစ်ယောက်ထီးတည်း နေသည့်အခါ၌ ပထမအသံ၏ တိုက်တွန်းနှိုးဆော်ချက်

အတိုင်း ဆောင်ရွက်၍ အစုအဝေး ဖြင့်နေသည့်အခါ၌ ဒုတိယအသံကို လိုက်နာခြင်း ပြု လေ သည်။ ဤသို့ဖြင့် အစုအဝေးနှင့် နေထိုင်လျက်ရှိသော မော်စကိုမြို့သူ မြို့သား တို့သည် ဒုတိယအသံကို နား ထောင်ကာ သောက်လား စားလား၊ ပေးလားဝါးလားဖြင့် ပေါ့လွှင်စွာနေထိုင်လျက် ရှိကြလေသည်။ မော်စကိုမြို့သူ မြို့သားများသည် ထိုနှစ်က လောက် မည်သည့်နှစ်ကမျှ ပျော်ပါးမြူးထူးခြင်း မရှိခဲ့ကြဖူးသေးချေ။

ထိုအတောအတွင်း မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင်၏ ကြော်ငြာ စာရွက်များ ပေါ်ထွက်လာ သည်။ ကြော်ငြာစာရွက်တွင် ဘုံဆိုင်တစ်ဆိုင်၊ အရက် သမား တစ်ဦးနှင့် ကာပွတ်ရှကာအမည်ရှိ မော်စကိုမြို့ သားတစ်ယောက်၏ပုံကို ရေးဆွဲထား၍ ကဗျာဆရာကြီး ပွတ်ရှကင်၏ဇာတိမာန်ကဗျာများကို အောက်တွင် ရေး ထားလေသည်။ အဓိပ္ပာယ်ကား အရက်သမားများပင်လျှင် အရေးပေါ်စစ်သည်စုအဖြစ် ဝင်ရောက် အမှုထမ်းကြကာ နပိုလီယန်အား ခုခံတိုက်ခိုက်ရန် စိတ်အားထက်သန် လျက်ရှိသည် ဟူသော သဘောဖြစ်၏။ မော်စကို မြို့သူ မြို့သားများသည် ထိုအကြောင်းကို ဆွေးနွေး ပြောဆိုလျက် ရှိကြလေသည်။

အင်္ဂလိပ်ကလပ်တွင်ကား ကလပ်ဝင်များသည် အခန်းထောင့်တစ်ထောင့်တွင် စုဝေးကာ ထိုကြော်ငြာ စာရွက်များကိုဖတ်လျက် ရှိကြ၏။ အချို့ကလည်း "ပြင် သစ် အလောင်းများကို ရုရှားမုန်လာဥများကဲ့သို့ စုပုံစေအံ့၊ သင်းတို့အားလုံး ဂျုံစေ့ပြုတ်တိုက် အံ့၊ မုန်လာဥရည် တိုက် အံ့၊ သင်းတို့ ပြင်သစ်တို့သည် လူပုများသာ ဖြစ်၍ ရုရှား လယ်သူမ တစ်ယောက်လျှင် သင်းတို့သုံးယောက်ကို ကောက်ဆွဖြင့် ထိုးသတ်အံ့"ဟု နောက်ပြောင်ကြုံးဝါးလျက် ရှိကြလေသည်။ မြို့စားကြီးရော့စတော့ချင်သည် ပြင်သစ် များနှင့် နိုင်ငံခြားသားများကို မော်စကိုမှ နှင်ထုတ်လိုက်ပြီ ဖြစ်ကြောင်း၊ နိုင်ငံခြားသားများ ထဲတွင် နပိုလီယန်၏ သူလျှိုများရှိကြောင်းဖြင့်လည်း သတင်းဖြစ်ပွားလျက် ရှိ လေသည်။ နိုင်ငံခြားသားများအား နစ်ဇနီသို့ သင်္ဘောဖြင့် တင်ပို့လိုက်ပြီဖြစ်ကြောင်း၊ ၎င်းတို့အား မြို့ဝန်မြို့စား ကြီး ရော့စတော့ချင်က ရုရှားပြည်တွင်းတွင် ခြေမရှုပ်ကြ ရန် သတိပေး လိုက်ကြောင်းဖြင့်လည်း ပြောဆိုလျက်ရှိ ကြ၏။ အချို့ကလည်း အစိုးရရုံးများမှာ မော်စ ကိုမှ ရွှေ့ ပြောင်းသွားကြပြီဟု ပြောဆိုကြ၏။ ရှင်ရှင်ကမူ မော်စကို တွင် အစိုးရရုံးများ မရှိ

တော့သည့်အတွက် မျက်စိနောက် သက်သာသွားသဖြင့် နပိုလီယန်ကို ဤတစ်ချက်တွင် ကျေးဇူးတင်ကြောင်းဖြင့် ခပ်ရွှန်းရွှန်းကလေးပင် ပြောလိုက် သေး၏။ သူကြွယ် မာမိုနော့ဗ်မှာ အရေးပေါ်စစ်သည်စု တပ်ရင်းတစ်ရင်းစာ တာဝန်ခံထားသည့်အတွက် ဒင်္ဂါး ပေါင်း ရှစ်သိန်း ကုန်ကျလျက်ရှိပြီ ဖြစ်ကြောင်း၊ မြို့စား ကလေးပီယာမှာ ထို့ထက်ပင် အကုန်အကျခံလျက် ရှိ ကြောင်း၊ ထိုမျှမက ၎င်းကိုယ်တိုင်လည်း စစ်ဝတ်စုံ ဝတ် ၍ လခတစ်ပြားတစ်ကျပ်မျှ မယူဘဲ ဝင်ရောက်တိုက်ခိုက် မည်ဟု ကြားသိရကြောင်းဖြင့် အမျိုးမျိုးပြောဆိုလျက် ရှိကြလေသည်။

“မြို့စားကလေးကတော့ ရက်ရက်ရောရောကြီး ကို လှူဒါန်းနေတော့တာပဲ” ဂျူလီ(ဘိုးရစ်၏ဇနီး) က လက်စွပ်ဝတ်ထားသည့် သေးသွယ်သော လက်ချောင်း ကလေးများဖြင့် ဂွမ်းလိပ်များထပ်ရင်း ပြောလိုက်သည်။

ဂျူလီမှာ နက်ဖြန်တွင် မော်စကိုမှ ပြောင်းရွှေ့ တော့မည်ဖြစ်သဖြင့် နှုတ်ဆက်ညှော့ခံပွဲတစ်ခု ကျင်းပလျက် ရှိလေသည်။

“မြို့စားကလေး ပီယာဆိုတဲ့ လူက တော်တော် တော့ ရယ်စရာကောင်းတဲ့လူပဲ၊ ဒါပေမဲ့ စိတ်ကောင်း သဘောကောင်းတော့ ရှိရှာပါတယ်။ “ဒီလို စိတ်အားထက် သန်နေရတာ” ဘာအရသာများ ရှိပါလိမ့်”

ဂျူလီက ပြင်သစ်လိုတစ်ဝက် ရုရှားလိုတစ်ဝက် ပြောလိုက်သည်။

“ဟော နှစ်ခွန်းပြောပြီခင်ဗျ၊ လျော်ရလိမ့်မယ်။ လျော်ရလိမ့်မယ်” အရေးပေါ်စစ်သည်စုဝတ်စုံဝတ်ထား သည့် လူငယ်တစ်ဦးက ပြောလိုက်၏။ ထိုလူငယ်မှာ ဂျူလီကို နစ်ဇနီသို့ လိုက်ပို့မည့်သူဖြစ်ပြီး ဂျူလီက ၎င်းကို “သူရဲကောင်းကြီး”ဟု ခေါ်လေ့ရှိသည်။

ထိုအချိန်က ဂျူလီ၏အသိုင်းအဝိုင်း အပါအဝင် မော်စကိုမြို့ အထက်တန်းလွှာ အသိုင်းအဝိုင်းများ၌ ရုရှား စကားမှအပ အခြားမည်သည့်နိုင်ငံခြားစကားကိုမျှ ပြောဆိုခြင်း မပြုရဟူသောခေတ်စားနေသည့် ပညတ်ချက်တစ်ခု ရှိ၏။ မတော်တဆ ပြင်သစ်စကားပြောမိလျှင် လျော်ကြေး ပေးရန်လည်း သတ်မှတ်ထားကြ၏။ ထိုလျော်ကြေးများကို

စစ်စရိတ်ရန်ပုံငွေထဲသို့ ထည့်ဝင်ကြရန်လည်း စည်းကမ်း သတ်မှတ်ထားကြသည်။ အရေးပေါ် စစ်သည်စု ဝတ်စုံ ဝတ်ထားသည့်လူငယ်က လျော်ကြေးတောင်းနေခြင်းမှာ ဂျူလီ ပါးစပ်မှ ပြင်သစ်စကားများ မတော်တဆထွက်လာ သောကြောင့် ဖြစ်လေသည်။

““ဘာအရသာရှိပါလိမ့်” ဆိုတဲ့စကားကတော့ ပြင် သစ်စကား မဟုတ်ဘူးဗျ။ ဒါပေမဲ့ ဇာတိမာန် ဇာတိသွေး တက်ကြွတာကို မကောင်းဘူးလို့ပြောတဲ့အတွက်လဲ လျော်ကြေးပေးသင့်တယ်ထင်တယ်ခင်ဗျ” ရုရှား စာရေးဆရာ တစ်ယောက်က ပြောလိုက်သည်။

“သူ့မှာဖြင့် သူများကို အမှားဖမ်းဖို့လောက်ပဲ စောင့်နေတာပဲ”ဂျူလီက ခပ်စောစောကပြောသည့် အရေး ပေါ်စစ်သည်စု ဝတ်စုံနှင့် လူရွယ်ကို မျက်စောင်းကလေး ထိုး၍ ခပ်နွဲ့နွဲ့ ပြောလိုက်သည်၊ အတန်ကြာမှ

”ကဲပါရှင် ပြောမိတဲ့စကားလုံးအတွက် လျော် ကြေးပေးပါ့မယ်၊ ပေးပါ့မယ်၊ ဂျူလီတို့က ရုရှားစကားကို သင်ရအောင်ကလဲ မင်းသားကလေးဂါလစ်ဆင်တို့လို ပိုက်ဆံလဲ မချမ်းသာဘူး၊ အချိန်လဲ မရဘူးရှင့်၊ ဟော ပြောရင်းဆိုရင်း မြို့စားလေး ပီယာတောင် ရောက်လာပြီ၊ “ခုပဲ'အို ယောင်လို့”

ဂျူလီသည် “ခုပ်” ဟူသော ပြင်သစ်စကားလုံး တစ်လုံးကို ယောင်ပြောလိုက်မိသဖြင့် အရေးပေါ်စစ်သည် စုဝတ်စုံဝတ်ထားသော လူရွယ်ဘက်သို့ လှည့်ပြောလိုက်သည်။

“ဒါပဲနော် သူများအမှားကိုချည်း စောင့်စောင့် မနေနဲ့၊ ကြွပါ မြို့စားလေး၊ ခုပဲ မြို့စားလေးအကြောင်း ကို ပြောနေကြပါသေးတယ်၊ နေမင်းကြီးအကြောင်း ပြောနေတုန်း နေရောင်ခြည်လေး ဖြာကျသလိုပေါ့ရှင်။ မြို့စားလေးရဲ့ အရေးပေါ် စစ်သည်စုတပ်ရင်းကတော့ မာမို နော့ဗ်တပ်ရင်းထက်သာမှာပဲလို့ ချီးကျူးနေကြပါတယ်”

ဂျူလီက အထက်တန်းလွှာမိန်းမတို့၏ ထုံးစံ အတိုင်း မုသားပြောခြင်းတွင် ကျွမ်းကျင်သောလေသံဖြင့် ပြော၏။

“အို ကျွန်တော့်တပ်ရင်းအကြောင်း မပြောစမ်း ပါနဲ့ခင်ဗျာ၊ စိတ်ကုန်လွန်းလို့ပါ” ပီယာက ဂျူလီ၏ လက်ခုံကိုနမ်းရှုပ်၍ အနီးတွင် ဝင်ထိုင်ရင်း ပြောလိုက် သည်။

“အို ဘယ့်နှယ် စိတ်ကုန်ရမှာလဲ၊ မြို့စားလေး ကိုယ်တိုင် ကွပ်ကဲဦးစီးမလို့ဆို” ဂျူလီက အရေးပေါ် စစ်သည်စုဝတ်စုံ ဝတ်ထားသော လူရွယ်ဘက်သို့ ခပ် လှောင်လှောင်ပြုံး၍ မေးလိုက်သည်။

အရေးပေါ် စစ်သည်စုဝတ်စုံကို ဝတ်ထားသည့် လူရွယ်သည် ပီယာရောက်လာသောအခါ၌ စောစောက လောက် အာဝဇ္ဇန်းမရွှင်ရတော့ဘဲ တိတ်ဆိတ်သွား၏။

ဂျူလီက မည်သည့်အဓိပ္ပာယ်ဖြင့် ခပ်လှောင်လှောင်ပြုံးပြ သည်ကိုလည်း စဉ်းစားမရအောင်ဖြစ်နေလေသည်။ ပီယာ သည် နဝေတိမ်တောင်ဖြစ်တတ်၍ သဘောကောင်းသူတစ်ယောက်ဖြစ်သော်လည်း ပီယာ၏ဥပဓိရုပ်မှာ အဟန့် ကောင်းသဖြင့် ရှေ့တွင် နောက်ပြောင်ခြင်း မပြုရဲကြချေ။

“အို ကျွန်တော် ကွပ်ကဲဦးစီးလို့ ဖြစ်နိုင်ပါ့မလား” ပီယာက ၎င်း၏ဝဖြိုး တောင့်တင်းသောခန္ဓာကိုယ်ကြီးကို ငုံ့ကြည့်၍ ပြောလိုက်သည်။ “ဒီခန္ဓာကိုယ်ကြီးနဲ့ စစ်မြေ ပြင်ထွက်ရင် ပြင်သစ်တွေအဖို့ ပစ်ကွင်းကောင်းကောင်း ပေးသလိုဖြစ်ပြီး ပစ်မလွဲဖြစ်နေမှာပေါ့။ ပြီးတော့လဲ ဒီ ခန္ဓာကိုယ်ကြီးနဲ့ ဘယ်နှယ့်လုပ် မြင်းပေါ်ရောက်အောင် တက်ရမလဲဆိုတာ စဉ်းစားလို့မရအောင် ဖြစ်နေတယ် ခင်ဗျ”

ဂျူးလီ၏နှုတ်ဆက်ညှော့်ခံပွဲသို့ လာရောက်သည့် မင်းပရိသတ်များသည် ပြောစရာအတင်းအဖျင်းများ မကျန် တော့သည်၌ မြို့စားကြီး ရော့စတော့ဗ်တို့ မိသားစု အကြောင်း စကားစပ်မိလာကြပြန်သည်။

“မြို့စားကြီး ရော့စတော့ဗ်တို့ခမျာလ် စီးပွားရေး အခြေအနေ တော်တော်ဆိုးနေတယ်လို့ ကြားရပါကလား၊ ဂျူလီဖြင့် နည်းနည်းလေးမှ စိတ်မကောင်းပါဘူးရှင်" ဂျူလီက ပြောလိုက်၏။ “ခက်တာက မြို့စားကြီးကလဲ မြို့စားကြီးပါပဲ၊ လုပ်ပုံကိုင်ပုံက ဟန်မကျဘူး၊ ကြည့်လေ မော်စကိုအိမ်နဲ့ မော်စကိုနားက ပိုင်စားနယ်မြေတွေကို ရာဇူမော်စကီက

ဝယ်မယ်လို့ ပြောထားတာ ကြာပါပကော အဲဒါ ခုထက်ထိ အရောင်းအဝယ်မဖြစ်သေးဘူး။ ဈေးက အဆမတန်ဆိုထားတယ်ဆိုပဲ”

“အို မကြာခင် အရောင်းအဝယ် ဖြစ်တော့မှာပါတဲ့ ဒါပေမဲ့ တိုင်းပြည် ဒီလောက် ဗရုတ်ဗရက်ဖြစ်နေတုန် မော်စကိုမှာ အိမ်ဝယ်တဲ့လူကလဲ ဝယ်ပါရဲ့၊ ရူးများရူး နေသလား မသိပါဘူး” တစ်ယောက်က ဝင်ပြောလို

”အို မဝယ်ရတော့ဘူးလား၊ မော်စကိုမှာ ဘာများ ဖြစ်သေးလို့လဲ”

“ဘာမှ မဖြစ်သေးရင် ဂျူလီတို့ ဘာဖြစ်လို့ တခြားကိုပြောင်းဖို့ စီစဉ်နေကြသေး သလဲ”

“အို ဂျူလီပြောင်းတဲ့ကိစ္စလား၊ ဒါကတော့ အများက ပြောင်းနေကြတာကိုးရှင့်၊ အများ မိုးခါးရေသောက် တော့လဲ သောက်ရတာပေါ့၊ ပြီးတော့ လီကလဲ ဂျုန်း အော့ဖ်ဘာ့ တို့လို အာဇာနည်အမျိုးသမီး မဟုတ်ပေဘူးရှင့်”

“ရှိပါစေတော့ဗျာ။ ရှိပါစေတော့”

“မြို့စားကြီးရော့စတော့ဗ်တို့လဲ ဒီလိုအိမ်လေး မြေလေးထုခွဲရောင်းချမှ အကြွေး တွေ ဆပ်နိုင်ရှာတော့ မှာပဲဗျ” အရေးပေါ်စစ်သည်စုဝတ်စုံကို ဝတ်ထားသည့် လူရွယ်က ဆက်လိုက်ပြန်သည်။

“ဟုတ်ပါတယ်လေ၊ ခမျာ သနားစရာပါ။ မြို့စားကြီးခမျာလဲ သဘောကောင်းလွန်း လို့ ဒီအခြေ ဆိုက်ရရှာတာပါ၊ သူတို့လဲ ဘာဖြစ်လို့များ မော်စကိုမှာ ဒီလောက်အကြာကြီး နေသလဲ မသိဘူးနော်၊ အစတုန်းက တော့ တောကိုပဲ ချက်ချင်းပြန်တော့မလိုလိုပဲ၊ နာတာ ရှာ လဲ တော်တော်နေကောင်းလာပြီ မဟုတ်လား၊ ဟုတ်ပါ သလား မြို့စားလေး” လီက သူသိသည်ဆိုသော အပြုံးမျိုးဖြင့် ပီယာဘက်သို့ လှည့်မေးလိုက်သည်။

“သူတို့ သားအငယ်ဆုံးလေးကို စောင့်နေတယ် ထင်ပါတယ်” ပီယာက ပြောလိုက် သည်။ “သားအငယ် ဆုံးလေးက ဗိုလ်ချုပ်အိုဘိုလင်စကီရဲ့ ကော့ဆက်မြင်းတပ် ထဲ ဝင်လို့ တပ်နဲ့အတူ စစ်မြေပြင်ကို ပါသွားပါတယ်။ ခု ကျွန်တော့်တပ်ရင်းမှာ အမှုထမ်းဖို့ သူငယ်

လေးကို ပြန်ခေါ်ထားပါတယ်၊ မြို့စားကြီးကတော့ ပြန်ချင်လှပြီ ထင်ပါတယ်၊ မြို့စား ကတော်ကြီးက သားမလာမချင်း မပြန်ဘူးဆိုလို့ ဆိုင်းနေတယ်ထင်ပါရဲ့"

"တစ်နေ့က အက်ခါရေ့ရဲ့ ညှော့ခံပွဲမှာ မြို့စား ကတော်ကြီးတို့သားအမိနဲ့တွေ့ တယ်၊ နာတာရှာကလေးက နေမကောင်းဖြစ်ပြီးခါမှ ပိုပြီး လှလာပါကလား၊ ချစ်စရာ ကလေး၊ အဲဒီညှော့ခံပွဲမှာ သီချင်းတစ်ပုဒ်တောင် ဆိုပြသွား သေးတယ်၊ တချို့လူများကျ တော့လဲ ဘာကိုပဲဖြစ်ဖြစ် ပြီးပြီးပျောက်ပျောက် ဖြစ်လွယ်တတ်ကြတာပဲ၊ အမှတ်

"ဘာကို ပြီးပြီးပျောက်ပျောက် ဖြစ်လွယ်တာလဲ ဂျူလီ" ပီယာက မကျေနပ်သံဖြင့် မေးလိုက်သည်။

ဂျူလီက ပြုံးလိုက်၏။

"မြို့စားလေးလို သူရဲကောင်းပီသတဲ့လူကဖြင့် မဒမ်ဒီဆူဇာရဲ့ ဝတ္ထုတွေထဲမှာသာ တွေ့နိုင်ပေတာပ်ရှင်၊ သည်းချေ မရှိကြဘူး"

တကယ်ချီးကျူးလောက်ပါပေတယ်"

"ဘာ ဘာ သူရဲကောင်းလဲ ဂျူလီ၊ ကျွန်တော် နားမလည်ဘူး" ပီယာက မျက်နှာတွင် ရှက်သွေးဖြန်းလျက် ရှိရင်း ပြောလိုက်၏။

"မြို့စားကလေးကလဲရှင် အချင်းချင်းတွေပဲ၊ မော်စကိုတစ်မြို့လုံး ဥက္ကာငွေ့ယူ ဖြစ်နေတဲ့ကိစ္စပဲ၊ ဂျူလီ တော့ မြို့စားကလေးကို သိပ်အံ့သြတာပဲ"

"ဟော ပြင်သစ်လို ပြောပြန်ပြီခင်ဗျ၊ လျော်ရလိမ့် မယ်နော်၊ လျော်ရလိမ့်မယ်" အရေးပေါ်စစ်သည်စု ဝတ်စုံ ဝတ်ထားသည့်လူရွယ်က ပြောလိုက်၏။

"လျော်ပါ့မယ်ရှင် လျော်ပါ့မယ်၊ စကားကို မပြောရဲ လောက်အောင်ဖြစ်နေပြီ၊ ဂျူလီ ဖြင့် ပြင်သစ်လို မပြောရတာ သိပ်စိတ်ညစ်တာပဲ"

"ဘာလဲဗျ "မော်စကိုတစ်မြို့လုံး ဥက္ကာငွေ့ယူ" ဆိုတဲ့စကားက" ပီယာသည် စိတ်ဆိုးလာကာ မတ်တတ် ရပ်၍ မေးလိုက်သည်။

"ဘာရမလဲ မြို့စားလေး သိသားပဲ"

"ဟင့်အင်း ကျွန်တော်မသိဘူး"

"မြို့စားလေးဟာ နာတာရှာနဲ့ ဘယ်လောက် ရင်းနှီးနေကြတယ်ဆိုတာ ဂျူလီသိပါတယ် မြို့စားလေးရဲ့ ၊ ဒါကြောင့် အေးလေ ဒါက သိပ်တော့ မဆန်းပါဘူး၊ ဂျူလီဆိုရင်လဲ သူ့အစ်မတီရာနဲ့ သိပ်ခင်တာကလား"

"ဒီမှာခင်ဗျား" ပီယာက မကျေနပ်သံဖြင့် ပြော လိုက်သည်။ "ကျွန်တော်ဟာ မြို့စားကြီး ရော့စတော့ဗ်ရဲ့ သမီးထွေး နာတာရှာရဲ့ သူ့ရဲကောင်း မဖြစ်ခဲ့ဖူးပါဘူး၊ သူတို့အိမ်ကို မရောက်တာလဲ တစ်လလောက် ရှိပါပြီ။ ဒီလို သွားပုပ်လေလွင့်ပြောတာမျိုးကတော့"

"ဟော ဟော " အိုးမလုံ အုံပွင့်"ဆိုတဲ့ စကားပုံလို ဖြစ်နေပြီ" ဂျူလီက ပြုံး၍ပြောလိုက်ပြီးနောက် အောင်နိုင် သူ၏ဟန်ဖြင့် ဂွမ်းဖတ်ကလေးများကို လွှတ်ချလိုက်သည်။ ထို့နောက် စကားလွှဲလိုသည့်ဟန်ဖြင့်

"ဒီနေ့ သတင်းတစ်ခုကြားတယ် မြို့စားလေးရဲ့၊ မင်းသားကြီးဘိုလကွန်စကီရဲ့ သမီးတော် မင်းသမီးကလေး မေရီ မော်စကိုကိုရောက်လာပြီတဲ့၊ မင်းသားကြီး ဘိုလကွန် စကီကံတော်ကုန်တဲ့သတင်းကိုကော မြို့စားလေး ကြား ပြီးပြီလား"

"ဟုတ်လား ကျွန်တော် မသိသေးဘူး၊ ခု ဘယ်မှာ တည်းသတဲ့လဲ၊ သွားပြီး တွေ့ဦးမှပဲ" ပီယာကပြောလိုက် သည်။

"မနေ့ညနေက ဂျူလီနဲ့ တွေ့တယ်လေ၊ မော်စကို နားက ပိုင်စားနယ်မြေကို ပြောင်းမလို့ ပြောတယ်၊ ဒီနေ့ပဲ သွားဖြစ်သလား၊ မနက်ဖြန်မှ သွားမလားတော့ မသိဘူး"

"သူကော နေကောင်းရဲ့ မဟုတ်လား"

"ကောင်းပါတယ်၊ ဒါပေမဲ့ သိပ်ပြီး စိတ်လက်ချမ်း သာပုံ မရဘူး၊ ပြောလိုက်ရဦးမယ်၊ သူ့ကို ဘယ်သူ ကယ်ဆယ်လိုက်တယ်ထင်လဲ၊ သိပ်ဝတ္ထုဆန်တာပဲ မြို့ စားလေးရယ်၊ နီကိုလေ ကယ်ခဲ့တာပဲ၊ ထိပ်ထားလေးရဲ့ ပိုင်စားနယ်မြေမှာရှိတဲ့ မြေကျွန်တွေက အာဏာ

ဖီဆန်ပြီး သူ့ကိုသွားခွင့်မပေးဘဲ ဝိုင်းသတ်မယ်လို့ ဆိုပဲ၊ အဲဒီတုန်း နီကိုလေရောက်လာပြီး ကယ်ပေလို့တဲ့”

“တယ်ကောင်းတဲ့ဝတ္ထုလေးပဲ ခင်ဗျာ” အရေးပေါ် စစ်သည်စု ဝတ်စုံကို ဝတ်ထားသည့်လူရွယ်က ပြောလိုက် ၏။ “ဘာပဲ ဖြစ်ဖြစ် ခု စစ်ကြီးကတော့ အပျိုကြီးတွေကို ကြင်ဖက်ရှာပေးတာတော့ အမှန်ပဲခင်ဗျ၊ ပထမ မင်းသမီး ကြီး ကတာချီ၊ ဒုတိယ မင်းသမီး ကလေး မေရီ”

“ဂျူလီအထင်တော့ ထိပ်ထားလေးဟာ နီကိုလေ ကို တော်တော်စွဲလမ်းနေပြီထင်တယ်”

“ဟော ပြင်သစ်လို ပြောပြန်ပြီခင်ဗျ၊ လျော်ရပြန် ပြီခင်ဗျ၊ လျော်ရပြန်ပြီ”

“ဒီစကားကို ရုရှားလို ဘယ်လိုလုပ် ပြောရမှာလဲ ရှင့်၊ ခက်လိုက်တာနော် သိပ်စိတ်ညစ်တာပဲ”

## အခန်း ၁၈

စံအိမ်သို့ပီယာပြန်ရောက်လာသောအခါ၌ မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင်၏ကြော်ငြာစာရွက် နှစ်ရွက် ရောက်နေသည်ကို တွေ့ရလေသည်။

ပထမကြေညာချက်၌ မြို့ဝန် မြို့စားကြီး ရော့ စတော့ချင်က မြို့သူ မြို့သားများအား မော်စကိုမှ ပြောင်း ရွှေ့ခြင်းမပြုရဟု အမိန့်ထုတ်ထားသည်ဟူသောသတင်း မှာ မဟုတ်ကြောင်း၊ မိမိအနေဖြင့် အမျိုးသမီးများနှင့် သူဌေး သူကြွယ်ကတော်မယားများ မော်စကိုမြို့မှ ယခုကဲ့သို့  ကြိုတင်ထွက်ခွာသွားသည်ကိုပင် ဝမ်းမြောက်ကြောင်းဖြင့် ဖော်ပြထားလေသည်။ ဤသို့ စောစီးစွာ ပြောင်းရွှေ့သွား ခြင်းကြောင့် အထိတ်တလန့် ဖြစ်ခြင်းများ၊ ကောလာဟ ပြောဆိုမှုများ နည်းပါးသွားမည် ဖြစ်ပေသည်။ မည်သို့ ဖြစ်စေ ပြင်သစ်လူဆိုး ဓားပြများ မော်စကိုသို့ ဝင်ရောက် ခြင်းမပြုနိုင်ရန်အတွက် ကျွန်ုပ်အနေဖြင့် သက်စွန့်ကြိုးပမ်း ခုခံကာကွယ်မည်သာဖြစ်ပေကြောင်း စသဖြင့် မြို့ဝန်၏

ကြေညာချက်တွင် ဖော်ပြထား၏။ ပီယာသည် ဤကြေညာ ချက်ကို ဖတ်လိုက်ရသည်နှင့် တစ်ပြိုင်နက် ပြင်သစ်တပ် များ မော်စကိုသို့ ဝင်ရောက်တော့မည်မှာ မြေကြီး လက် ခတ် မလွဲ ဖြစ်နေပေပြီဟု ပထမဆုံးအကြိမ် သိမြင်လာ လေသည်။ မြို့ဝန် မြို့စားကြီး ရော့စ တော့ချင်၏ ဒုတိယ ကြေညာချက်၌ ကျွန်ုပ်တို့၏ စစ်ဦးစီးဌာနချုပ်သည် ဗျာ ဇမာ၌ စခန်းချလျက်ရှိကြောင်း။ မြို့စားကြီးဝပ်ဂျင်စတိန်း သည် ပြင်သစ်များကို သုတ်သင် ချေမှုန်းလျက်ရှိကြောင်း၊ သို့သော်လည်း အဖနိုင်ငံတော်ကြီး၏အကျိုးကို သယ်ပိုး လိုသော ဆန္ဒရှိပါက မော်စကိုမြို့သူ မြို့သားများကို လက် နက်တပ်ဆင်ပေးမည် ဖြစ်ကြောင်း၊ မော်စကိုမြို့သူ မြို့ သားများအတွက် လက်နက်များ လက်နက်တိုက်၌ အဆင် သင့်ရောက်ရှိနေပြီဖြစ်ကြောင်း၊ ဓားရှည်များ၊ ပြောင်းတို သေနတ်များ၊ ကျည်တစ်လုံးထိုး သေနတ်များကို အဖိုး ချိုသာစွာဖြင့် ထုတ်ပေးမည် ဖြစ်ကြောင်း စသဖြင့် ဖော်ပြ ထားလေ သည်။ သို့ရာတွင် မော်စကိုမြို့ဝန်ရော့စတော့ချင် ၏လက်ရှိကြေညာချက်များမှာ ခပ် စောစောကြေညာချက် များကဲ့သို့ “ပြင်သစ်အလောင်းများ မုန်လာဥများကဲ့သို့ တောင်ပုံရာပုံဖြစ်စေအံ့” ဟူသော ကြုံးဝါးချက်မျိုးမပါ တော့ဘဲ လေသံပျော့လာခြင်းကို တွေ့ရ၏။ ပီယာသည် မြို့ဝန်ရော့စတော့ချင်၏ကြေညာချက်ကို စဉ်းစား၍နေမိ သည်။ သို့နှင့် တစ်ပြိုင်တည်း မိမိ မျှော်လင့်ခဲ့သောနပို လီယန်အားချေမှုန်းရန် အချိန်အခါကောင်း သည် ဆိုက် ရောက်လာချေပြီဟု ယူဆလိုက်မိလေသည်။

ပီယာသည် တပ်မတော်တွင် ဝင်ရောက်အမှုထမ်းရ မည်လောဟု အပြန်ပြန်အလှန်လှန် တွေးတောလျက် ရှိ၏။ ပီယာသည် စားပွဲပေါ်ရှိ ဖဲထုပ်တစ်ထုပ်ကို ဆွဲယူလိုက်ပြီး ဖဲဖေဒင်တွက်လျက် ရှိလေသည်။

“ဖဲဖေဒင် မှန်ရင်၊ ဖဲဖေဒင် မှန်ရင်” ပီယာသည်  ဖဲထုပ်ကို ကုလားဖန်ထိုးရင်း တွေးတောလျက်ရှိလေသည်။ ဖဲဖေဒင်မှန်ရင် မည်သို့လုပ်ရမည်နည်းဟု ဆုံးဖြတ်၍ကား မရသေးချေ။ ဤသို့ ချီတုံချတုံဖြစ်လျက်ရှိစဉ် အခန်းဝမှ အစ်မတော် ပထမမင်းသမီး ကြီး၏ အသံကို ကြားရလေ သည်။

“ဖဲဖေဒင် မှန်ရင် ငါ တပ်မတော်ထဲကိုဝင်မယ်၊ ဟုတ်တယ်၊ တပ်မတော်ထဲကို ဝင်မယ်” ပီယာသည် ဆုံး ဖြတ်ချက်ချလိုက်ပြီးနောက် အစ်မတော် ပထမမင်းသမီး ကြီးအား

ဝင်လာနိုင်ကြောင်းဖြင့် လှမ်းပြောလိုက်သည်။

ပီယာဥ္ဒ အဖေစုံ အမေကွဲ အစ်မသုံးယောက် ရှိသည့်အနက် အလတ်နှင့် အငယ်မှာ အိမ်ထောင်ကျသွား ပြီဖြစ်သည့်အတွက် အကြီးဆုံးဖြစ်သော ခါးရှည်ရှည် မျက်နှာ လေးထောင့်နှင့် ပထမမင်းသမီးကြီးတစ်ယောက် သာလျှင် မော်စကိုစံအိမ်တွင် နေထိုင် လျက် ရှိလေသည်။

"တိုင်ပင်စရာလေးရှိလို့ လာခဲ့တာပဲ မောင်လေး ရေ" ပထမမင်းသမီးကြီးက အရေးတကြီးအသံဖြင့် ပြော လိုက်သည်။ "အစ်မတော်တို့အနေနဲ့လဲ တစ်ခုခုတော့ ဆုံးဖြတ်မှ ဖြစ်မယ်ထင်တယ်၊ တိုင်းပြည်ကြီးကလဲ ရုတ် ရုတ် ရုတ်ရုတ်နဲ့၊ ဘာဖြစ်မလဲ မ သိသေးဘူး၊ တချို့လဲ မော်စကိုက ပြောင်းကုန်ကြပြီ၊ အဓိကရုဏ်းတွေလဲ ဖြစ်နေ သတဲ့၊ အစ်မတော်တို့ ဒီမှာဆက်နေလို့ ဖြစ်ပါ့မလား ဟင်"

"အခြေအနေကောင်းပါတယ် အစ်မတော်ရဲ့" ပီယာသည် ပထမမင်းသမီးကြီးနှင့် တွေ့လျှင် ခပ်ရွတ် ရွတ်ပြောလေ့ရှိသည့်အတိုင်း ပြောလိုက်သည်။

"အလိုတော် တိုင်းပြည်ကြီးပျက်တော့မလောက် ဖြစ်နေတာများ အခြေအနေ ကောင်းတယ်လို့ ပြောတာ မောင်လေးတစ်ယောက်တည်းပဲ ရှိတယ်၊ တပ်မတော်တွေ ကလဲ တစ်ရှုံးတည်း ရှုံးနေတယ်ဆိုပါကလား၊ မော်စကို မှာလဲ သူပုန်ထကုန်ပြီတဲ့၊ တခြား မပြောနဲ့လေ၊ ဘယ် လောက်အခြေအနေဆိုးလာပြီလဲဆိုရင် အိမ်အစေခံတွေက တောင် ခု မချေမင် ရိုင်းရိုင်းပျပျ ဆက်ဆံလာကြပြီ၊ ဒီ ( အတိုင်းသာဆိုရင် ရှေ့မှာ အစ်မတော်တို့ကို တောင် ရိုက် နှက်ဆုံးမကြမလား မသိဘူး၊ လမ်းတောင် ကောင်းကောင်း မထွက်ဝံ့ သလောက် ဖြစ်နေပြီ၊ ဒါတွေထက် ပြင်သစ်တပ် တွေကလဲ မြို့ထဲကို နေ့ဝင်မလား ညဝင် မလား ဖြစ်နေပြီး  အစ်မတော်တော့ ပြောင်းမှ ဖြစ်တော့မယ်၊ အစ်မတော်ကို ပီတာစ ဘတ်ရွှေမြို့တော်ကို ပို့ပေးပါကွယ်၊ ဟိုမှာ ဘယ် လိုပဲနေရ နေရ နေပါ့မယ်၊ ဘိုနာပတ် ခြေဖဝါး အောက် မှာတော့ မနေပါရစေနဲ့"

"နေစမ်းပါဦး အစ်မတော်ရဲ့ ၊ ဒီလောက်လဲ အစိုး ရိမ်ကြီး မနေစမ်းပါနဲ့၊ ဒီသတင်း တွေကို အစ်မတော် ဘယ်က ကြားတာလဲ၊ အလကား သတင်းတွေပါ"

"အို ဘယ်လိုပဲဖြစ်ဖြစ် အစ်မတော်တော့ မောင် လေးတို့ နပိုလီယန်ခြေဖဝါး အောက်တော့ မနေနိုင်ဘူး၊ နေချင်တဲ့သူ နေကြ၊ အစ်မတော် မနေနိုင်ဘူး၊ မောင်လေး တို့က ပို့မပေးဘူးဆိုရင်လဲ"

"ကဲ ဒီလောက်တောင် ဖြစ်နေရင်လဲ ပို့ပေးပါမယ် အစ်မတော် စိတ်သာချပါ၊ ခု ချက်ချင်း အစီအစဉ်လုပ်ခိုင်း လိုက်ပါ့မယ်"။

ပထမ မင်းသမီးကြီးသည် ၎င်း၏အလိုပြည့်သွား ပြီ ဖြစ်သဖြင့် နောက်ထပ် မည်သည့်တောင်းဆိုချက်မျိုး ကို တောင်းရမည်နည်းဟု စဉ်းစားနေဟန်ရှိ၏။ ပထမ မင်းသမီးကြီးသည် တဖျစ်တောက်တောက်ရေရွတ်၍ ထိုင်ဖို့ တွင် ဝင်ထိုင်လိုက်သည်။

"ဒါပေမဲ့ အစ်မတော်ကြားတဲ့သတင်းတွေက သတင်းမှားတွေပါ၊ မြို့ထဲမှာ ဘာမှမဖြစ်ပါဘူး၊ အေးအေး ဆေးဆေးပါပဲ၊ ဘာမှ စိုးရိမ်စရာမရှိသေးပါဘူး၊ ကျွန်တော့် ကြည့်ပါလား"

ပီယာက မြို့ဝန်ရော့စတော့ချင်၏ ကြော်ငြာစာ ရွက်များကို ထောင်ပြလိုက်၏။

"ကျွန်တော်ဆိုရင် မြို့ဝန်ရဲ့ ကြော်ငြာစာရွက်တွေ ဖတ်လို့ ကျွန်တော်တို့ မြို့ဝန်မြို့စားကြီး ရော့စတော့ချင် က မော်စကိုမြို့ထဲကို ရန်သူတွေ မဝင်စေရပါဘူးတဲ့၊ သူကိုယ်တိုင် သက်စွန့်ကြိုးပမ်း ကာကွယ်ပါ့မယ်တဲ့"

"အို တော်စမ်းပါ၊ မောင်လေးတို့ မြို့ဝန်မင်းစကား အားကိုးနေလို့ မရပါဘူး၊ လူကကြောင်သူတော်၊ ခုလဲ သူ အဟုတ်မဟုတ်လို့ အဓိကရုဏ်းတွေ ဖြစ်ကုန်တာပေါ့။ ကြည့်ပါဦး၊ ကြော်ငြာစာကလဲ "အမိန့်ကို ဖီဆန်က ဆံပင် ဆွဲခေါ်၍ ထိပ်တုံးခတ်ခြင်း ခံရမည်"တဲ့၊ ဟင်း ဘယ် လောက်ယုတ်မာရိုင်းစိုင်းသလဲ၊ ပြီးတော့ "အာဏာဖီဆန် သူများကို ဖမ်းဆီးပေးက ချီးကျူးဂုဏ်ပြုခြင်း ခံရမယ်"တဲ့။

ဒါ သက်သက် မြို့သူ မြို့သားများအချင်းချင်း သွေးကွဲ အောင် ရန်တိုက်ပေးပြီး မြှောက်ခိုင်းတာ မဟုတ်ဘူးလား၊ အစ်မတော်မိတ်ဆွေ အိုင်ဗင်နိုဗာတောင် ပြင်သစ်စကား တစ်ခွန်း ပြောမိလို့ လူအုပ်ကြီးက ဝိုင်းရိုက်တော့မလို့တဲ့"

“အစ်မတော်က ကောလာဟလစကားတွေကို သိပ်ယုံတာကို” ပီယာက ဤသို့ပြောကာ ဖဲချပ်များကို လှန်၍ ဖဲဖေဒင်တွက်နေသည်။

ပီယာ၏ ဖဲဖေဒင်မှာ မှန်သော်လည်း ပီယာသည် တပ်မတော်ထဲသို့ ဝင်ရောက်အမှုထမ်းခြင်း မပြုချေ။ ပီယာသည် လူသူကင်းမဲ့လျက်ရှိသော မော်စကိုမြို့ကြီး ထဲတွင်ကျန်ရစ်ခဲ့လေသည်။ စိတ်ချောက်ချားခြင်း၊ ဝေခွဲ မရဖြစ်ခြင်း၊ ထိတ်လန့်ခြင်း၊ တစ်စုံတစ်ခုသော ကြောက် စရာ့အဖြစ်ကြီးကို ရင်တထိတ်ထိတ်စောင့်မျှော်လျက်ရှိခြင်း စသည့်ဝေဒနာများသည် ပီယာ၏ရင်ထဲတွင် ရုန်းရင်း ဆန်ခတ်ဖြစ်လျက် ရှိ၏။

နောက်တစ်နေ့ညနေ၌ ပထမမင်းသမီးကြီးသည် မော်စကိုမြို့မှ ထွက်ခွာသွားလေသည်။ ပီယာ၏ စာရင်း ဒိုင်ချုပ်သည် ပီယာထံ ရောက်လာကာ ` အရေးပေါ်စစ် သည်စုများ ထည့်ဝင်ရေးကိစ္စအတွက် စရိတ်စက မလုံ လောက်ကြောင်း၊ ပိုင်စားနယ်မြေတစ်ခုကို ရောင်းချမှ လုံလောက်နိုင်မည်ဖြစ်ကြောင်း၊ တပ်ရင်းကြီးတစ်ခု စုဆောင်းထည့်ဝင်ရခြင်းမှ များစွာ တာဝန်ကြီးလှသည့် အတွက် စီးပွားရေးပျက်ဖို့သာ ရှိတော့ကြောင်းဖြင့်ပြောဆို ခြင်းပြု၏။ ပီယာသည် စာရင်းဒိုင်ချုပ်၏စကားများကို နားထောင်လျက်ရှိရာချုပ်တည်းခြင်းငှာ မစွမ်းတော့ဘဲ” ပြုံးလိုက်မိသည်။

“ဒီလိုဆိုလဲ ရောင်းလိုက်ပေါ့ဗျ။ ဗိုလ်ပုံပရိသတ် အလယ်မှာ တပ်ရင်းတစ်ရင်းစာ ထည့်ဝင်မယ်လို့ ကျုပ် ကတိပေးခဲ့ပြီးပြီဗျ၊ ကျုပ်ကတိကို မဖျက်နိုင်ဘူး၊ ပိုင်စား နယ်မြေ တစ်ခုနဲ့ မလောက်လို့ ရှိသမျှရောင်းမှ လောက်မယ် ဆိုရင်လဲ ရောင်းရမှာပဲ၊ မတတ်နိုင်ဘူး”

ပီယာသည် မိမိ၏အခြေအနေအရပ်ရပ်နှင့် တကွ တိုင်းပြည်အခြေအနေ ဆိုးလာသည်နှင့်အမျှ မိမိ မျှော်လင့် တောင့်တလျက်ရှိသော တုန်လှုပ်ချောက်ချားဖွယ် အဖြစ်အပျက်ကြီး ဆိုက်ရောက်လာတော့မည်ဟု ယူဆကာ ပီတိ ဖြစ်လျက် ရှိလေသည်။ ပီယာ၏အသိမိတ်ဆွေ ဟူသမျှ  မှာ မော်စကိုမှ ထွက်ခွာသွားကြလေပြီ။ ဂျူလီနှင့် မင်းသမီးကလေးမေရီတို့လည်း ထွက်ခွာသွားကြလေပြီ။ ပီယာ နှင့် ရင်းနှီးသည့်

အသိမိတ်ဆွေထဲကဆိုလျှင် မြို့စားကြီး ရှော့စတော့ဗ်တို့ မိသားစုသာလျှင် ကျန်တော့သည်။ သို့ ရာတွင် ပီယာသည် ၎င်းတို့ထံသို့လည်း မရောက်တော့ ချေ။

ပီယာသည် စိတ်ပြေလက်ပျောက် သဘောဖြင့် ထိုနေ့ညနေ၌ ဗိုရွန်ဆိုဗိုရှာရှိ လက်ပစ်၏မီးပုံးပျံကြီးကြည့် ရှုရန် ထွက်လာခဲ့လေသည်။ ထိုမီးပုံးပျံကြီးမှာ ရန်သူကို တိုက်ရန် အတွက် လက်ပစ်ဆိုသူ ဗိသုကာတစ်ဦးက တည် ဆောက်လျက်ရှိရာ နောက်တစ်နေ့တွင် အစမ်းပျံသန်းပြ မည် ဖြစ်လေသည်။ မီးပုံးပျံကား အဆင်သင့် မဖြစ်သေး ချေ။ ထိုမီးပုံးပျံကြီးကို ဘုန်းတော်ကြီးသောဘုရားအမိန့်ဖြင့် ဆောက်လုပ်ထားခြင်းဖြစ်သည်ဟု ပီယာသိရ၏။ ဤကိစ္စ နှင့်ပတ်သက်၍ ဘုန်းတော်ကြီးသောဘုရားက မော်စကို မြို့ဝန် မြို့စားကြီး ရှော့စတော့ချင်ထံ အောက်ပါအတိုင်း အမိန့်စာချွန်တော် ပေးပို့လိုက်၏။ .

”လက်ပစ်၏ မီးပုံးပျံ အဆင်သင့်ဖြစ်သည်နှင့် သူရ သတ္တိနှင့် ပြည့်စုံ၍ ယုံကြည်စိတ်ချရသူ မီးပုံးပျံစီးသူရဲ တို့ကို ရွေးချယ်ထားရမည်။ မီးပုံးပျံအဆင်သင့်ဖြစ်ကြောင်း ကိုလည်း စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ထံ ဆက်သားလွှတ်၍ အကြောင်းကြားရမည်။ ဤအကြောင်း ကိုလည်း စစ်သေနာပတိချုပ်ထံ ငါကိုယ်တော်တိုင် မှာ ကြားပြီးဖြစ်သည်။

“မီးပုံးပျံဆင်းသက်ရာတွင် ဆင်းသက်မည့်နေရာ ကို သေချာစွာရွေးချယ်ရန် လက်ပစ်ကိုသတိပေး။ အဆင်း မတော်က ရန်သူစစ်ကြောင်းနောက်သို့ ကျရောက်မည် စိုးရသည်။ ငါတို့စစ်၌ လက်ပစ်၏မီးပုံးများနှင့် စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်၏ကြည်းတပ်မတော် လှုပ်ရှားမှုများ ကို ပူးပေါင်းပေးရန် အရေးကြီးသည်။”

”. ဗိုရွန်ဆိုဗိုရှာမှ အပြန်တွင် ပီယာသည် ဗိုလှေနို လူသတ်ကုန်းကို ဖြတ်၍လာခဲ့၏။ လူသတ်ကုန်း၌ လူ အများစုဝေးလျက်ရှိခြင်းကို မြင်ရလေသည်။ ပီယာသည် ကရထား ပေါ်မှဆင်းကာ လူအုပ်ထဲသို့ တိုးဝှေ့ဝင်လာခဲ့၏။ ပြင်သစ်ထမင်းချက်တစ်ယောက်ကို သူလျှိုဟု စွပ်စွဲကာ ကြိမ်ဒဏ်ပေးနေခြင်းပေတည်း။ ပီယာရောက်သွားသော အခါ၌ ကြိမ်ဒဏ်ရိုက်၍ ပြီးနေပေပြီ။ ထို့နောက် ပါးကွက် အာဏာသားတစ်ယောက်သည် ခြေအိတ်ပြာ၊ အင်္ကျီစိမ်း တို့ကိုဝတ်ထား၍ နီရဲသောနှုတ်ခမ်းမွေးကျင်စွယ်ရှိသည့် သန်

သန်မာမာလူတစ်ယောက်ကို ကြိမ်ဒဏ်ရိုက်သည့် ကားစင်ပေါ်သို့ ခေါ်လာ၏။ ထိုလူသည် သနားစဖွယ် ငိုကြွေးလျက် ရှိလေသည်။ ခပ်ပိန်ပိန်၊ အသားအရေခပ် ဖျော့ဖျော့ရှိသည့် ရာဇဝတ်ကောင်တစ်ယောက်သည်လည်း အနီးတွင် ရပ်လျက်ရှိ၏။ ၎င်းတို့နှစ်ဦးစလုံး၏ ရုပ်ရည်ကို ကြည့်ခြင်းအားဖြင့် ပြင်သစ်လူမျိုးများ ဖြစ်ကြောင်း သိ နိုင်ပေသည်။ ပီယာ၏မျက်နှာသည် ရာဇဝတ်ကောင်၏ မျက်နှာကဲ့သို့ ထိတ်လန့်တုပ်လှုပ်သောအသွင်ကို ဆောင် လျက် ရှိလေသည်။ ပီယာသည် လူအုပ်ကြားထဲသို့ တိုးဝှေ့ ဝင်လာခဲ့သည်။

“ဘာဖြစ်လို့လဲဗျ ဘယ်သူလဲ၊ ဘာဖြစ်လို့လဲဟင်” ပီယာသည် အနားကလူများကို တတွတ်တွတ်မေးမြန်း လျက် ရှိသည်။

သို့ရာတွင် အရာရှိ အရာခံများ၊ မြို့သားများ၊ ဆိုင်ရှင်များ၊ လယ်သမားများ၊ မိန်းမ များစသဖြင့် ရော ထွေးပြီးပွဲမ်းလျက်ရှိသော လူအုပ်ကြီးသည် ပီယာ၏အမေး ကို မဖြေ နိုင်ဘဲ လူသတ်ကုန်းဆီသို့သာ စိတ်အားထက်သန် စွာကြည့်ရှုလျက်ရှိ၏။ သန်မာ တောင့်တင်းသည့် ရာဇဝတ် ကောင်သည် မျက်မှောင်ကုတ်၍ ပခုံးတွန့်လိုက်ပြီး ပမာ မ ထားသည့်ဟန် ဆောင်လိုက်၏။ သို့ရာတွင် ကြာကြာ ဣမဆောင်နိုင်ဘဲ နှုတ်ခမ်းများ တ ရှုံ့ရှုံ့တုန်လာကာ ငိုချလိုက်ပြန်သည်။ သန်သန်မာမာ ယောကျ်ားရင့်မကြီး တစ်ယောက်ဖြစ် ပါလျက် မျက်ရည်မထိန်းနိုင်ကောင်းလား ဟူ၍လည်း ၎င်းဘာသာ ဒေါသထွက်လျက်ရှိ ဟန် တူလေ သည်။ လူများသည် အမျိုးမျိုးဝေဖန်ပြောဆိုလျက် ရှိကြ သည်။

။ “မင်းသားတစ်ပါးရဲ့ ထမင်းချက်ဆိုပဲ” .

”အင်း ခွေးသားတွေ၊ ရုရှားချဉ်ဖတ် အရသာကို ဘယ်လိုလဲဆိုတာ သိသွားရောပေါ့ ကွာ”

ပါးရေတွန့်လျက်ရှိသော စာရေးတစ်ယောက်က ငိုနေသည့်ရာဇဝတ်ကောင်ကို ကြည့်ရင်း ပြောလိုက်သည်။

စာရေးသည် ၎င်း၏စကားကို အနီးအနားမှ သဘောကျလေမည်လောဟူသော အကြည့်မျိုးဖြင့် ပတ်ဝန်း  ကျင်ကို လှည့်ကြည့်လိုက်သည်။ အချို့က သူ့စကားကို

သဘောကျ၍ ရယ်ကြ၏။ အချို့က ရာဇဝတ်ကောင်၏ အင်္ကျီကိုချွတ်နေသော ပါးကွက် အာဏာသားကို စိတ်ပျက် လက်ပျက်ဖြင့် ကြည့်နေကြသည်။

ပီယာသည် အသက်ရှူရကျပ်လာသည်။ မျက်နှာ ကိုလည်း ရှုံ့၍ထားလိုက်မိသည်။ ထို့နောက် ချာခနဲလှည့် လာခဲ့ကာ ပါးစပ်မှ တစ်စုံတစ်ရာကိုရွတ်ဆိုလျက် က ရထားဆီသို့ လာခဲ့လေသည်။ လမ်းတစ်လျှောက်၌လည်း ပီယာမှာ တစ်ကိုယ်လုံး ကြက်သီးမွေးညင်း တွေ ထလာ ကာ ပါးစပ်က မြည်တွန်တောက်တီးလာသည်။

"သခင်လေး ဘာဖြစ်လို့လဲ"

"ဟော့ကောင်ဘယ်ကို မောင်းနေတာလဲကွ" ပီယာ သည် လူဖျန်ကာလမ်းဘက်သို့ မောင်းနေသော ရထား သမားကို လှမ်းအော်လိုက်သည်။

"သခင်လေးက မြို့ဝန်အိမ်ကို မောင်းရမယ်ဆို"

"သွား အိမ်ကိုမောင်း၊ အိမ်ကို မောင်းပါလို့ ငါ ပြောထားတယ် မဟုတ်လား၊ ဒီနေ့ မော်စကိုက ထွက်မယ်"

ပီယာသည် ပြင်သစ်လူမျိုးတစ်ယောက်အား ညှဉ်း ပန်းနှိပ်စက်နေခြင်းနှင့် လူသတ် ကုန်းမှ လူအုပ်ကြီးကို မြင်လိုက်ရကတည်းက စက်ဆုပ်ရွံရှာစိတ်များ တဖွား ဖွား ပေါ်ပေါက်လျက်ရှိလေပြီ။ ထို့ကြောင့် ပီယာသည် မော် စကိုမှ အမြန်ဆုံးထွက်ခွာသွားပြီး နောက် တပ်မတော်ထဲ သို့ဝင်ရောက်ရန်ဆုံးဖြတ်လိုက်လေသည်။ ဤအကြောင်း ကို မိမိ ကပြောသည်ဖြစ်စေ၊ မပြောသည်ဖြစ်စေ ၎င်း၏ ရထားသမားသည် အလိုအလျောက်သိ သင့်သည်ဟုလည်း ယူဆလျက် ရှိလေသည်။

အိမ်သို့ ပြန်ရောက်သောအခါတွင် ပီယာသည် မိမိ ၏အကြောင်းကို ကောင်းကောင်းသိသော ရထားထိန်းချုပ် အက်စတေဖီကိုခေါ်ကာ မိမိသည် ယနေ့ ညတွင်းချင်းပင် မော်စကိုမှ မိုဇဟော့အရပ်တွင်တပ်စွဲထားသော တပ်မတော် ဌာနချုပ်သို့ ထွက်ခွာသွားမည်ဖြစ်ကြောင်း၊ မြင်းများကို ကုန်းတင်၍ ထိုဒေသသို့ ပို့ပေးရမည် ဖြစ်ကြောင်း အမိန့် ပေးလိုက်သည်။ သို့ရာတွင် ပီယာ၏အစီအစဉ်မှာ ယနေ့ ညတွင်းချင်း

လုပ်၍ မဖြစ်နိုင်သည့်အတွက် တစ်နေ့ဆိုင်း ကာ မြင်းထောက်များကို ကြို၍ လွှတ်လိုက်ရသည်။

ထိုနေ့မှာ ဩဂုတ်လ ၂၄ ရက်နေ့ ဖြစ်၏။ မိုးတစ် ပြိုက်လောက် ရွာပြီးသည့်နောက်၌ ရာသီဥတုမှာ ကြည်လင် သာယာလျက်ရှိသည့်အလျောက် ပီယာသည် ညစာစား ပြီးနောက် မော်စကိုမှ ထွက်လာခဲ့လေသည်။ ထိုနေ့ည၌ ပါကူရှကိုဗိုရွာသို့ ရောက်၍ မြင်းသစ်များ ဝင်လဲသည့် အခါတွင် ထိုနေ့ညနေက ရန်သူတပ်များနှင့် တိုက်ပွဲအပြင်း အထန် ဖြစ်ပွားကြောင်း သတင်းကြားရလေသည်။ (ထို တိုက်ပွဲမှာ ရှီဗာဒီနိုတိုက်ပွဲ ဖြစ်၏။) သေနတ်သံများကို ပါကူရှကိုဗိုရွာမှ တအုန်းအုန်း ကြားနေကြရကြောင်း၊ မြေကြီးများပင် တုန်၍သွားကြောင်းဖြင့် ကြားသိရ၏။ သို့ရာတွင် မည်သည့်ဘက်က အနိုင်ရသနည်းဟု မေးမြန်း သည့်အခါ၌ကား မည်သူမျှ ရေရာစွာ မဖြေနိုင်ကြချေ။ နောက်တစ်နေ့ နံနက်အရုဏ်တက်၌ ပီယာသည် မိုဇဟေ့ ရွာနားသို့ ချဉ်းကပ်လာခဲ့လေသည်။

မိုဇဟေ့ရွာထဲ၌ကား အိမ်တိုင်းတွင် စစ်သားများ ဖြင့် ပြည့်လျက်ရှိ၏။ တည်းခိုခန်းတွင် ကြိုတင်ရောက်ရှိ နေသော မိမိ၏မြင်းထိန်းနှင့် ရထားသမားကို ပီယာတွေ့ ရ၏။ တည်းခိုခန်းတွင် နေရာလွတ် မရှိတော့ချေ။ တပ် ဗိုလ်များနှင့် ပြည့်နှက်လျက် ရှိလေပြီ။

အချို့တပ်များသည် မိုဇဟေ့ရွာနှင့် ရွာနီးချုပ်စပ် ၌ စခန်းချလျက်ရှိ၍ အချို့တပ်များကား စစ်မြေသို့ ခွဲ တက်လျက်ရှိကြသည်။ ကော့ဆက်မြင်းတပ်များ၊ ခြေလျင် , တပ်များ၊ မြင်းတပ်များ၊ ဝန်တင်လှည်းများ၊ ခဲယမ်း မီး ကျောက်တင်လှည်းများ၊ အမြောက်တင်ရထားများကို လည်း အနှံ့အပြားတွေ့ရလေသည်။ ပီယာသည် ထိုကြား ထဲမှ ဖြတ်သန်းကာ ရှေ့သို့ အတင်းဝင်လာခဲ့သည်။ မော်စကိုမှ ဝေးလာခဲ့သည်နှင့်အမျှ လယ်ပြင်ကြီးကဲ့သို့ ကျယ်ပြန့်လာသော စစ်တပ်များကြားသို့ တဖြည်းဖြည်း ရောက်မှန်းမသိ ရောက်လာခဲ့လေပြီ။ ထိုသည်နှင့်အမျှ စိတ်လှုပ်ရှားလာကာ ပျော်သလိုလို ရွှင်သလိုလို ဖြစ်လာ သည်။ ထိုခံစားချက်မျိုးကို စလိုဘိုဒါနန်းတော်တွင် ဘုန်းတော်ကြီးသောဘုရားကို ဖူးမြော်ခဲ့စဉ်က ခံစားခဲ့ဖူးပြီ ဖြစ်လေသည်။ မိမိသည် တာဝန်တစ်စုံတစ်ခု ထမ်းဆောင်ကာ တစ်စုံတစ်ရာကို စွန့်လွှတ်ရန် လိုအပ်လာပြီ ဖြစ် ကြောင်းကိုလည်း သဘောပေါက်လာလေသည်။ စည်းစိမ် ချမ်းသာဖြင့် နေထိုင်ရခြင်း၊ ဥစ္စာပစ္စည်းပေါများခြင်းနှင့် တကွ လူ့

ဘဝတစ်ခုလုံးသည် ဤတစ်စုံတစ်ရာနှင့် နှိုင်း  ယှဉ်လိုက်သော် အသေးအဖွဲမျှသာ တကား ဟု သဘော ပေါက်လာသည်။ သို့ရာတွင်ထိုတစ်စုံတစ်ရာသည်အဘယ် နည်း။ ပီယာသည် ထိုမေးခွန်းကိုလည်း ဖြေဆိုနိုင်ခြင်း မရှိချေ။ အရာရာကို စွန့်လွှတ်ရခြင်းသည် မည်သူ့ အတွက် မည်သည့်အရာအတွက်ဆိုသည်ကိုလည်း ပီယာမသိချေ။ သို့ရာတွင် ထိုမေးခွန်း သည် ပီယာ့အတွက် ဘာမျှ အရေး မကြီးပါ။ ပီယာ့အတွက် အရေးကြီးသည်မှာ ယခုကဲ့သို့ စွန့်လွှတ်ခြင်းအတွက် အသစ်ဖြစ်သော ကြည်နူးသော ဝေဒနာကို ခံစားရခြင်းသာ ဖြစ်ပါ သတည်း။

# အခန်း ၁၉

ဩဂုတ်လ ၂၄-ရက်နေ့၌ ရှီဗာဒီနိုခံတပ် တိုက်ပွဲဖြစ်ပွား ၏။ ဩဂုတ်လ ၂၅-ရက် နေ့၌ မည်သည့်ဘက်ကမျှ ပစ် ခတ်ခြင်း မပြုကြချေ။ ဩဂုတ်လ ၂၆-ရက်နေ့၌ ဘိုရိုဒီနို တိုက်ပွဲကြီး ဖြစ်ပွားလေသည်။ ရှီဗာဒီနိုခံတပ် တိုက်ပွဲနှင့် ဘိုရိုဒီနို တိုက်ပွဲများသည် မည် သည့်အတွက်ကြောင့် ဖြစ် ပွားခဲ့ကြသနည်း။ မည်သို့ မည်ပုံ ဖြစ်ပွားခဲ့ကြသနည်း။ ဘိုရိုဒီနို တိုက်ပွဲကို မည်သည့်အတွက်ကြောင့် တိုက်ခိုက်ခဲ့ ကြသနည်း။ ဘိုရိုဒီတိုက်ပွဲသည် ပြင် သစ်တို့အဖို့လည်း ကောင်း၊ ရုရှားတို့အဖို့လည်းကောင်း လားလားမျှအဓိပ္ပာယ် မရှိချေ။ ဘို ရိုဒီနိုတိုက်ပွဲမှ ရုရှားတို့ ရရှိမည့်၊ ရရှိသည့် လက်ငင်းအကျိုးတရားကား မော်စကိုမြို့ကြီး ပျက်စီးခြင်း ဖြစ်၏။ (ဤသည်ကို ရုရှားတို့ အကြောက်ဆုံးဖြစ်သည်။) တစ်ဖန် ပြင်သစ်တို့ ရရှိသည့် လက်ငင်းအကျိုးတရားမှာ လည်း ပြင်သစ်စစ်တပ်ကြီး ပျက်စီးခြင်းဖြစ်၏။ (ဤ သည် ကိုလည်း ပြင်သစ်တို့ အကြောက်ဆုံးဖြစ်သည်။) ဤအကျိုး သက်ရောက်မှုများ မလွဲမသွေ ဆိုက်ရောက်လာလိမ့်မည် ဟု နှစ်ဖက်စလုံးကပင် သိရှိခဲ့ကြသော်လည်း နပိုလီ ယန် သည် ထိုးစစ်ပြုခဲ့၍ ရုရှားစစ်သေနာပတိချုပ် ကူတူဇော့ဗ် လည်း ၎င်းထိုးစစ်ကို ခုခံခဲ့ ပေသည်။ မိုက်မဲကြလေစွ။

စစ်ဗိုလ်ချုပ်များ၌ ဆင်ခြင်တုံတရားဟူ၍ နှမ်းစေ့ လောက်မျှ မရှိကြချေ။ ၎င်းတို့၌ ဆင်ခြင်တုံတရားဟူ၍ ရှိခဲ့လျှင် နပိုလီယန်သည် ရုရှားနိုင်ငံအတွင်းသို့ မိုင်ပေါင်း တစ်

ထောင့်သုံးရာမျှ ထိုးဖောက်ဝင်ရောက်ခြင်း ပြုခဲ့မည်  မဟုတ်ချေ။ မိမိစစ်တပ်ကြီး၏ လေးပုံတစ်ပုံကို အဆုံးရှုံး ခံလျက် ထိုးစစ်ဆင်နွှဲခြင်း ပြုခဲ့မည်မဟုတ်ချေ။ ဤသို့ ပြုလုပ်ခြင်းသည် ကိုယ့်သေတွင်း ကိုယ်တူးသော အလုပ်မျှ သာဖြစ်ကြောင်းကို နပိုလီယန် ကောင်းစွာသဘောပေါက် မည်သာ ဖြစ်လေသည်။ အလားတူပင် ရုရှား စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည်လည်း နပိုလီယန်၏ထိုးစစ်ကို ခုခံခြင်းပြုမည် မဟုတ်ချေ။ ရုရှားစစ်တပ်ကြီး၏ လေးပုံ ( တစ်ပုံကို အဆုံးရှုံးခံ၍ ခံစစ်ပြုခဲ့မည်မဟုတ်ချေ။ ဤသို့ ပြုလုပ်ခြင်းသည် မော်စကိုမြို့ကြီးကို ရန်သူ့လက်သို့ ထိုးအပ်ခြင်းသာဖြစ်ကြောင်းကို စစ်သေနာပတိချုပ်ကူတူ ဇော့ဗ် သိမြင်ခဲ့သည်သာဖြစ်လေသည်။ လူနှစ်ယောက် ကျားကစားကြရာ၌ ကျွန်ုပ်သည် ရန်သူ့ထက် ကျားတစ် ကောင်လျော့လျက်ရှိ၏။ ကျားချင်းလဲ၍ ကစားမည်ဆိုက ကျွန်ုပ်ရှုံးဖို့ သေချာလျက်ရှိလေပြီ။ ထို့ကြောင့် ကျွန်ုပ် အဖို့ အရေးအကြီးဆုံးမှာ ကျားချင်းလဲ၍ မကစားရန်သာ ဖြစ်၏။ ရန်သူက ကျားတစ်ဆယ့်ခြောက်ကောင် ရှိချိန်၌ ကျွန်ုပ်တွင် ကျားတစ်ဆယ့်လေးကောင် ရှိသေးလျှင် ကျွန်ုပ် သည် ရန်သူ့ထက် ရှစ်ပုံတစ်ပုံမျှသာ အားနည်းလျက်ရှိ သောကြောင့် ကျွန်ုပ်အဖို့ ကိစ္စမရှိသေး။ သို့ရာတွင် ကျွန်ုပ်က ကျားဆယ့်သုံးကောင်ကို လဲ၍ကစားမည်ဆိုက ရန်သူက သုံးကောင် ကျွန်ုပ်က တစ်ကောင်ဖြစ်သဖြင့် ရန်သူသည် ကျွန်ုပ်ထက် သုံးဆမျှအားသာသောအခြေသို့ ရောက်လာခဲ့လေပြီ။ ဤအချက်သည် တစ်နှင့်တစ်ပေါင်း လျှင် နှစ်ရသကဲ့သို့ ရှင်းရှင်းကြီး မြင်နေရသောအချက်ဖြစ်၏။ သို့ရာတွင် ရုရှားစစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် ဤမျှရှင်းလင်းလွယ်ကူသောအချက်ကို မမြင်ခဲ့ချေ။

ဘိုရိုဒီနိုတိုက်ပွဲ မဖြစ်မီ၌ ပြင်သစ်နှင့် ရုရှားတို့၏ ခန့်မှန်းခြေအင်အား အချိုးအစားမှာ ပြင်သစ်တို့ဘက်က ခြောက်ပုံဖြစ်၍ ရုရှားတို့ဘက်က ငါးပုံဖြစ်၏။ တိုက်ပွဲပြီး သည့်အခါ၌ကား ပြင်သစ်တို့ဘက်က နှစ်ပုံရှိ၍ ရုရှား တို့ဘက်၌ တစ်ပုံမျှသာ ကျန်ခဲ့လေပြီ။ တစ်နည်းကား တိုက်ပွဲမဖြစ်မီ၌ ပြင်သစ်တို့ဘက်က စစ်သည်တစ်သိန်း နှစ်သောင်းရှိ၍ ရုရှားဘက်က စစ်သည်တစ်သိန်း ရှိခဲ့၏။

တိုက်ပွဲပြီးသည့်အခါ၌ ပြင်သစ်တို့ဘက်က စစ်သည်တစ် သိန်းကျန်၍ ရုရှားတို့ဘက်က စစ်သည်ငါးသောင်းသာ  လျှင် ကျန်ခဲ့လေပြီ။ ကျားကောင်ရေနည်းသူအဖို့ ကျား

ချင်းလဲ ကစားသောနည်းသည် အရှုံးကိုသာဖြစ်ကြောင်း ဗေဒင်မမေးဘဲ သိနိုင်ပါသည်။ သို့သော်လည်း အတွေ့ အကြုံကြွယ်ဝ၍ ကျွမ်းကျင်လိမ္မာသော စစ်သူကြီးတစ်ဦး ဖြစ်သည့် ကူတူဇော့ဗ်သည် တိုက်ပွဲကို ရှောင်ကွင်းခြင်း မပြုဘဲ ရင်ဆိုင် ခုခံခဲ့လေသည်။ စစ်ဆင်စစ်တက်အရာ၌ တေဒဂ်ရသည်ဆိုသော နပိုလီယန်သည်လည်း မိမိစစ်တပ်ကြီး၏လေးပုံတစ်ပုံကို အဆုံးရှုံးခံကာ စစ်ကို ထပ်မံတိုးချဲ့ ခဲ့လေသည်။ နပိုလီယန်သည် စစ်သည်လေးပုံ တစ်ပုံ အပျက်ခံ၍ ဘိုရိုဒီနိုကို တရကြမ်းဝင်တိုက်ခဲ့ခြင်းမှာ မော်စကိုမြို့ကို သိမ်းပိုက်ပြီး စစ်နားလိုသောကြောင့် ဖြစ် သည်ဟု အချို့က ဆင်ခြေပေးကြ၏။ (၎င်းတို့က နပို လီယန်သည် ၁၈၀၅-ခုနှစ်က ဗီယင်နာမြို့တော်ကို သိမ်း ပြီးနောက် စစ်နားခဲ့သည့်အချက်ကို သာဓက ဆောင်ပြ ကြသည်။) အမှန်၌ကား ဤသို့ မဟုတ်ချေ။ နပိုလီယန် သည် မော်စကို ကိုသိမ်းပြီးနောက် စစ်နားရန်ကြံရွယ်ချက် မရှိခဲ့ချေ။ ဤအချက်ကို အဖြစ်အပျက်များက သက်သေ ပြလျက် ရှိပေသည်။ နပိုလီယန်သည် စမိုးလင့်ကို သိမ်းပြီးနောက် စစ်နားရန် ကြံရွယ်ခဲ့ကြောင်း၊ စစ်တိုးချဲ့ခြင်း ကြောင့် ပေါ်ပေါက်လာမည့် အန္တရာယ်ကိုလည်း ကြိုတင် သိမြင်ခဲ့ကြောင်း၊ သို့ရာတွင် စမိုးလင့်သို့ရောက်၍ ရုရှား များက မြို့ရွာများကို မီးရှို့ဖျက်ဆီးပစ်ခဲ့ခြင်းကို တွေ့ရသည့် နောက်၌ မော်စကို ကို သိမ်းပြီးသည့်တိုင်အောင် စစ်၍ မဖြစ်တော့ကြောင်းကို သဘောပေါက်လာခဲ့ကြောင်း၊ ထို့ပြင် ငြိမ်းချမ်းရေးဆွေးနွေးရန် မိမိ၏အကြိမ်ကြိမ် ကမ်းလှမ်း ချက်များကိုလည်း ရုရှားဘုရင်က တစ်စုံတစ်ရာ အကြောင်း ပြန်ကြားခြင်း မရှိခဲ့ကြောင်း၊ ထိုအကြောင်းများကြောင့် ရှေ့သို့ ဆက်လက် ချီတက်ခဲ့ရခြင်းဖြစ်ကြောင်းဖြင့် နပို လီယန်၏ ရာဇဝင်ဆရာများက ရေးသားခဲ့ကြလေသည်။

ရုရှားစစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ဘိုရို ဒီနိုတိုက်ပွဲကို တိုက်ခိုက်ခဲ့ရာတွင် အဆင်ခြင်ဉာဏ်ကင်းမဲ့ စွာ ပြုလုပ်ခဲ့လေသည်။ သို့သော်လည်း နောင်သောအခါ၌ ရာဇဝင်ဆရာများသည် ရာဇဝင်၏ကျေးကျွန်များအနက် အဆင်ခြင်ဉာဏ် အကင်းမဲ့ဆုံး၊ အသိတရား အခေါင်းပါး ဆုံးဖြစ်သော ရာဇဝင်၏မျက်ကန်းကျွန် စစ်ဗိုလ်ချုပ် ကြီးများအား အမြော်အမြင်ကြီးသူများ၊ စစ်ဆင် စစ်တက် အရာတွင် ပါရမီထူးချွန်သူများအဖြစ်

သို့ ရောက်အောင် အဖြစ်အပျက်များနှင့် ကိုက်ညီသည့် သက်သေသာဓက များကို မရအရ ရှာဖွေဖော်ထုတ်ကာ ကျွမ်းကျင်စွာ လုပ်ကြံ ရေးသားခဲ့ကြလေသည်။

ဤသို့ဖြင့် ကျွန်ုပ်တို့သည် ရေးခေတ်လူများ ဖွဲ့ ဆိုခဲ့ကြသော သူရဲကောင်းများကို အလွန်အကျူးအမွှမ်း တင်ထားသည့် မော်ကွန်းသံပိုင်း သမိုင်းလင်္ကာအဖြာဖြာ တို့ကိုသာ ဖတ်ရှုလေ့လာ၍ ကြီးပြင်းလာခဲ့ကြသူများ ဖြစ်လေရာ ကာလကြာမြင့်သောအခါတွင် ထို သူရဲကောင်း များကို အမွှမ်းတင်ထားသော သမိုင်းလင်္ကာများသည် စစ်မှန်ခြင်းမရှိသော အရာများသာ ဖြစ်ကြောင်းကို သဘော မပေါက်နိုင်အောင် ဖြစ်လာခဲ့ကြလေသည်။

အခြား ပြဿနာတစ်ရပ်ဖြစ်သော ဘိုရိုဒီနိုတိုက်ပွဲ နှင့် ၎င်း၏ရှေ့ပြေးတိုက်ပွဲဖြစ်သည့် ရှီဗာဒီနိုခံတပ်တိုက်ပွဲ တို့ မည်သို့မည်ပုံဖြစ်သွားသည်ဆိုခြင်းနှင့် ပတ်သက်၍ လည်း ရာဇဝင်ဆရာများသည် အမှားမှားအယွင်းယွင်း ရေးသားဖော်ပြခဲ့ကြလေသည်။ အားလုံး သော ရာဇဝင် ဆရာများက ထိုတိုက်ပွဲများအကြောင်းကို အောက်ပါ အတိုင်း ရေးသားခဲ့ ကြလေသည်။

"ရုရှားတပ်မတော်ကြီးသည် စမိုးလင့်မှ ဆုတ်ခွာ လာခဲ့စဉ်တွင် ရန်သူများနှင့် ရင်ဆိုင်တိုက်ပွဲ ဆင်နွှဲရန် အကောင်းဆုံးသော ခံစစ်အနေအထားကို ရှာဖွေခဲ့ရာ ထို အနေအထားသည် ဘိုရိုဒီနိုဒေသဖြစ်ကြောင်းကို တွေ့ရှိ ခဲ့လေသည်" ဟု ၎င်းတို့က ရေးသားခဲ့ကြ၏။

"ရုရှားတပ်များသည် (မော်စကို စမိုးလင့်သွား) ပေတစ်ရာလမ်းမ ကြီး၏လက်ဝဲဘက်မှစ၍ ထိုလမ်းမကြီး မှ ထောင့်မှန်ခပ်ကျကျဖြစ်အောင် ဘိုရိုဒီနိုနှင့် အူတစ်ဇာ တစ်လျှောက်ကို ဖြန့်၍ တပ်စွဲထားခဲ့ကြကာ ခံစစ်အနေ အထားကို ပြင်ဆင်ထားခဲ့ ကြသည်" ဟုလည်း ၎င်းတို့က ဆိုကြ၏။

"ရန်သူ၏လှုပ်ရှားမှုကို ထောက်လှမ်းလေ့လာရန် အတွက် ထိုခံစစ်ကြောင်းရှေ့ရှိ ရှီဗာဒီနို တောင်ကုန်းပေါ် ၌ ရှေ့ပြေးကင်းစခန်းတစ်ခုကို အခိုင်အမာတည်သောက် ခဲ့ ကြ၏။ ဩဂုတ်လ ၂၄ ရက်နေ့တွင် နပိုလီယန်သည် ထိုရှေ့ပြေးကင်းစခန်းကို တိုက်ခိုက် သိမ်းပိုက်လိုက်ပြီး နောက် ဩဂုတ်လ ၂၆ ရက်နေ့တွင် ဘိုရိုဒီနိုမြေပြန့်တွင်  နေရာယူတပ်

စွဲထားသော ရုရှားတပ်မကို ဝင်ရောက်တိုက် ခိုက်သည်" ဟူ၍လည်း ၎င်းတို့က ရေးသားခဲ့ကြလေသည်။

ဤသည်တို့ကား ရာဇဝင်ဆရာများ၏ ရေးသား ချက်များ ဖြစ်၏။ သို့ရာတွင် ထိုတိုက်ပွဲများအကြောင်း ကို ဂရုတစိုက်လေ့လာပါက ၎င်းတို့၏ရေးသားချက်များ အားလုံးသည် ပါစင်အောင်လွဲလျက်ရှိခြင်းကို တွေ့ရမည် ဖြစ်လေသည်။

အမှန်တွင်ကား ရုရှားတို့သည် စမိုးလင့်မှ ဆုတ်ခွာ လာခဲ့စဉ် လမ်းတစ်လျှောက်၌ အကောင်းဆုံးသော ခံစစ် အနေအထားကို ရှာဖွေခြင်းမပြုခဲ့ကြချေ။ ရှာဖွေခြင်းမပြုခဲ့ ကြရုံမျှမက ဘိုရိုဒီနိုထက်ကောင်းသော ခံစစ်အနေအထား များကိုပင် စွန့်လွှတ်ခဲ့ကြလေသည်။ ထိုသို့ ဘိုရိုဒီနိုထက် ကောင်းသော ခံစစ်အနေအထားများကို စွန့်လွှတ်ခဲ့ခြင်း မှာလည်း ရုရှားစစ်သေနာပတိချုပ် ကူတူဇော့ဗ်က မိမိ ကိုယ်တိုင် ရွေးချယ်ခြင်းမပြုရသော ခံစစ်အနေအထား တစ်ခုတွင် တပ်စွဲလိုသောဆန္ဒ မရှိခြင်း၊ တပ်ဖိုလ်တပ်သား များကိုယ်၌ကလည်း ရင်ဆိုင်တိုက်ပွဲ ဆင်နွှဲရန် စိတ်အား ထက်သန်မှု မရှိခြင်း၊ ဗိုလ်ချုပ်ကြီး မီလိုရာဒိုဗစ်ဦးစီးသည့် အရေးပေါ် အရန်စစ်သည်စုများ စစ်မြေပြင်သို့ ရောက်ရှိ" မလာသေးခြင်းစသောအကြောင်းများနှင့်တကွ အခြားများ စွာသောအကြောင်းများကြောင့် ဖြစ်ပေသည်။ စင်စစ်တွင် ကား စမိုးလင့်မှ ဆုတ်ခွာခဲ့စဉ် လမ်းတစ်လျှောက်၌ ရုရှား တပ်များ စွန့်လွှတ်ခဲ့သည့် ခံစစ်အနေအထားများသည် (တိုက်ပွဲဖြစ်ပွားသော) ဘိုရိုဒီနိုဒေသရှိ ခံစစ်အနေအထား များထက် သာလွန်ကောင်းမွန်သည်သာ ဖြစ်ပေသည်။ ဘိုရိုဒီနိုဒေသမှာ ကောင်းမွန်သောခံစစ်အနေအထားတစ်ခု မဟုတ်ရုံမျှမက ခံစစ်အနေအထားဟုပင် မပြောနိုင်သော နေရာဒေသတစ်ခု ဖြစ်သည်။ ဘိုရိုဒီနိုကဲ့သို့ ခံစစ်အနေ အထားမျိုးကို ရှာလိုလျှင် ဤမျှလောက် ခဲခဲကပ်ကပ် ရှာစရာမလိုချေ။ ရုရှားနိုင်ငံမြေပုံကို မျက်စိမှိတ်၍ အပ်ဖြင့်ထောက်လိုက်လျှင်ပင် ဤမျှလောက် ခံစစ်အနေအထား မျိုးကို အလွယ်တကူ တွေ့နိုင်သည်။

ရာဇဝင်ဆရာများက ရုရှားတပ်များသည် မော်စကို စမိုးလင့် ပေတစ်ရာလမ်းမကြီး၏ လက်ဝဲဘက်၌ လမ်းမ ကြီးနှင့် ထောင့်မှန်ကျအောင် နေရာယူကာ ခံစစ်အနေ အ

ထားကို ပြင်ဆင်ထားခဲ့ကြသည်ဟု ရေးသားခဲ့ကြသည် (၎င်းတို့ပြောသောနေရာမှာ တကယ် တိုက်ပွဲဖြစ်ပွားသည့် နေရာဖြစ်၏။) သို့ရာတွင် အမှန်၌ကား ဤသို့ မဟုတ်ချေ။ ရုရှားတပ်များသည် ရာဇဝင်ဆရာတို့ ပြောသကဲ့သို့ ထို နေရာတွင် တပ်စွဲထားခြင်း ခံစစ် အနေအထားကို ပြင်ဆင် ထားခြင်း မရှိခဲ့ကြချေ။ ၁၈၁၂-ခု ဩဂုတ်လ ၂၅ ရက်နေ့ အထိ ရုရှားတပ်များသည် ထိုနေရာတွင် တိုက်ပွဲ ဖြစ်ပွား လိမ့်မည်ဟု မျှော်လင့်မထားခဲ့ကြချေ။ အောက်ပါတို့ကို ထောက်၍ ဤအချက်ကို သိနိုင်သည်။

ပထမအချက်အားဖြင့် ရုရှားတို့သည် ဩဂုတ်လ ၂၅ ရက်နေ့အထိ ထိုနေရာတွင် ကတုတ်ကျင်းများ တူး ထားခြင်း မရှိသေး။ ဩဂုတ်လ ၂၅ ရက်နှင့် ၂၆ ရက်ကျမှ သာ ကတုတ်ကျင်းများကို စတင်တူးခဲ့ကြသည်။ သို့ရာ တွင် အပြီးမသတ်နိုင်ခဲ့ကြ။ (ရာဇဝင် ဆရာတို့ ပြောသကဲ့ သို့ နဂိုကတည်းက ထိုနေရာတွင် ခံစစ်ကြောင်းပြင်ထား ခဲ့သည်ဆို လျှင် ကတုတ်ကျင်းများကို ခပ်စောစောကပင် ကြိုတင်တူးဖော် ပြင်ဆင်ထားရမည် မဟုတ်လော။) ဒုတိယအချက်အားဖြင့် ရှီဗာဒီနိုခံတပ်အနေအထား သည် နေရာမှားလျက် ရှိသည်။ ရာဇဝင်ဆရာတို့ ပြောသည့် အတိုင်းဆိုလျှင် ရှီဗာဒီနိုခံတပ်သည် ခံစစ်ကြောင်း ရှေ့တွင် ရောက်နေသည်။ ခံစစ်ကြောင်းထိပ်တည့်တည့်တွင် ထို ခံတပ်ရောက်နေခြင်းမှာ စစ်ပညာသဘောဖြင့်ကြည့်လျှင် လုံးဝအဓိပ္ပာယ်မရှိ။ ရှီဗာဒီနိုခံတပ်သည် (၎င်းတို့ပြော သကဲ့သို့) ရှေ့ပြေးကင်းစခန်းတစ်ခုမျှသာ ဖြစ်သည်ဆို လျှင် ၎င်းကို အခြားရှေ့ပြေးကင်းစ ခန်းများထက် အဘယ် ကြောင့် အခိုင်အမာတည်ဆောက်ထားရသနည်း။ ရှေ့ပြေး ကင်းစ ခန်းတစ်ခုမျှသာဆိုလျှင် ထိုခံတပ်ကို ဩဂုတ်လ ၂၄ ရက်နေ့ညအထိ အဘယ်ကြောင့် စစ် ပန်းခံ၍ ကာကွယ် နေရသေးသနည်း။ ထိုခံတပ်ကို အဘယ်ကြောင့် တပ်သား ခြောက် ထောင် အကျခံ၍ ကာကွယ်နေရသနည်း။ ရန်သူ စစ်ကြောင်း၏လှုပ်ရှားမှုကို ထောက်လှမ်းလိုသည်ဆိုလျှင် ကော့ဆက်ထောက်လှမ်းရေး ကင်းတပ်စုတစ်စုဖြင့် ကိစ္စ ပြီးနိုင်သည် မဟုတ်လော။

' တတိယအချက်အားဖြင့် ဩဂုတ်လ ၂၅ ရက်နေ့ အထိ ဗိုလ်ချုပ်ကြီးဘာကလေနှင့် ဗိုလ်ချုပ်ကြီးဘာဂရေး ရှင်းတို့က ရှီဗာဒီနိုခံတပ်ကို ရုရှားစစ်ကြောင်း၏ လက်ဝဲ တောင်ပံ အဖြစ် ယူဆထားကြသည်။ (ခံစစ်ကြောင်း ထိပ် တည့်တည့်မှ ရှေ့ပြေးကင်းစခန်းတစ်ခု

အဖြစ် မယူဆ။ ဤအချက်ကို သတိမူရမည်။) တိုက်ပွဲအပြီး ချက်ချင်းရေး ပို့သော စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ အစီရင်ခံစာ၌ လည်း ရှီဗာဒီနိုခံတပ်ကို ခံစစ်ကြောင်း လက်ဝဲတောင်ပံ အဖြစ် ဖော်ပြထားသည်။ (ခံစစ်ကြောင်းထိပ် ရှေ့ပြေး ကင်းစခန်းတစ်ခု ဟု မယူဆကြောင်းကို သတိပြုပါ။) ဤအချက်တို့ကိုထောက်သော် ရုရှားတပ်များသည် (ရာဇဝင်ဆရာတို့ ပြောသကဲ့သို့) ဘိုရိုဒီနိုမှ အူတစ်ဇာအထိ ကျယ်ပြန့်ရှည်လျားသော ခံစစ်အနေအထားကို ကြိုတင် သိမြင်ခြင်း မရှိခဲ့ကြကြောင်း၊ ရှီဗာဒီခံတပ်သည် ခံစစ် ကြောင်းထိပ်မှ ရှေ့ပြေးကင်းစခန်းတစ်ခု မဟုတ်ကြောင်း ထင်ရှားလှသည်။

သို့ရာတွင် ဘိုရိုဒီနိုတိုက်ပွဲကြီး ပြီးစီး၍ အစီရင်ခံ စာရေးကြသည့်အခါ၌ကား ခံစစ် ကြောင်း လက်ဝဲဘက် တောင်ပံရှိ အခိုင်အမာတည်ဆောက်ထားသော ရှီဗာဒီနို ခံတပ်ကို ရှေ့ပြေးကင်းစခန်းတစ်ခုမျှသာ ဖြစ်လေဟန်၊ တိုက်ပွဲဖြစ်မည်ဟု မျှော်လင့်ထားခြင်း လည်း မရှိ။ အခိုင် အမာခံစစ်ကြောင်းတည်ထားသောနေရာလည်းမဟုတ်သည့် ဘိုရိုဒီနို စစ်မြေပြင်ကို မူလအစကတည်းက အခိုင်အမာ ခံစစ်ကြောင်းတည်၍ ကြိုတင်ရွေးချယ် ထားသော စစ် မြေပြင်ဖြစ်လေဟန် အမှားမှားအယွင်းယွင်း ဖြစ်ကတတ် ဆန်း လုပ်ကြံ ရေးသားခဲ့ကြလေသည်။ (ဤသည်မှာ စစ် သေနာပတိချုပ်တို့မည်သည် အမှားအယွင်း အ တိမ်း အစောင်း အချွတ်အချော်မရှိနိုင် ဟူသောသဘောကို ပြလို သောကြောင့် အဖြစ်အပျက်နှင့် ကိုက်ညီအောင် တမင် လုပ်ကြံရေးသားခြင်းလည်း ဖြစ်နိုင်ပါသည်။) တ ကယ့် အဖြစ်အပျက်မှန်ကား ဤသို့တည်း။ ရုရှားတို့သည် ကိုလိုချာမြစ်ကမ်းတစ်လျှောက် တွင်ခံစစ် အနေအထားကို ရွေးချယ်ပြင်ဆင်ခဲ့ကြခြင်း ဖြစ်၏။ ကိုလို ချာမြစ်သည် မော်စ ကိုစမိုးလင့် ပေတစ်ရာလမ်းမကြီးကို ထောင့်မှန်သဏ္ဌာန် မဟုတ်ဘဲ ထောင့်ကျဉ်း သဏ္ဌာန် ဖြတ် သွား၏။ ဤသို့ဖြင့် ရုရှားတို့က ကိုလိုချာမြစ်ကမ်းတစ် လျှောက်တွင် ခံစစ် ကြောင်းကို ဖြန့်လိုက်သောအခါ၌ လက်ဝဲတောင်ပံသည် ရှီဗာဒီနိုတွင်ရောက်နေပြီး လက်ယာ တောင်ပံသည် နိုဗိုရွာအနီးသို့ ရောက်လျက် ရှိ၏။ ခံစစ် ကြောင်း၏ဗဟိုချက်မ မှာ ဗိုညာနှင့် ကိုလိုချာမြစ်ဆုံရှိ ဘိုရိုဒီနိုဒေသဖြစ်လေသည်။

လက်တွေ့ တိုက်ပွဲ မည်သို့ မည်ပုံဖြစ်ပွားသည်ကို အပထား၍ ဘိုရိုဒီနိုစစ်မြေပြင်၏ အနေအထားကို ရုတ် တရက်ကြည့်လိုက်မည်ဆိုပါက ရှေ့တွင် ကိုလိုချာမြစ် ကြီး ကာဆီး

လျက်ရှိသည့် ခံစစ်အနေအထားသည် မော်စကို စမိုးလင့် ပေတစ်ရာလမ်းမကြီးအတိုင်း ချီတက်လာသော ရန်သူများကို ပိတ်ဆို့ထားမည့် ရုရှားတပ်များအတွက် သင့်လျော်သော ခံစစ်အနေအထားဖြစ်ကြောင်း တွေ့ရ၏။

သြဂုတ်လ ၂၄ ရက်နေ့တွင် နပိုလီယန်သည် မြင်းစီး ၅၅ ဗာလူယေဗိုဒေသသို့ ရောက်လာခဲ့၏။ ရာဇဝင်ဆရာ များက နပိုလီယန်သည် ဘိုရိုဒီနိုမှ အူတစ်ဇာအထိ ရှည်လျားသောခံစစ်ကြောင်းကို ကြည့်ရှုခဲ့သည်ဟု ဆိုကြသော် လည်း တကယ်၌ နပိုလီယန်သည် ခံစစ်အနေအထားကို မမြင်ခဲ့ချေ။ (ထိုနေရာ၌ ရုရှားခံစစ်ကြောင်း မရှိသဖြင့် နပိုလီယန်မမြင်ခဲ့ခြင်းမှာလည်း ဘာမျှ အံ့သြစရာ မရှိပါ။ ထိုအချက်မှာ နောက်မှ ထိုနေရာတွင် တိုက်ပွဲဖြစ်ပွားခြင်း ကြောင့် ရာဇဝင်ဆရာတို့က စိတ်ကူးဖြင့် မှန်းဆရေးခဲ့ခြင်း သာ ဖြစ်ပါသည်။) ထိုမျှမက (ရာဇဝင်ဆရာတို့ ပြောသကဲ့ သို့) နပိုလီယန်သည် ရုရှားရှေ့ပြေးကင်းစခန်းကို ရှီဗာ ဒီနိုတောင်ကုန်းပေါ်တွင် တွေ့ခဲ့သည်ဟု ဆိုခြင်းမှာလည်း မမှန်ချေ။ နပိုလီယန်သည် ရုရှားနောက်ဖျားတပ်များကို လိုက်လံတိုက်ခိုက်ရင်း ရှီဗာဒီနိုခံတပ်ရှိ ရုရှားစစ်ကြောင်း ၏လက်ဝဲတောင်ပံကိုသာ တွေ့သွားခြင်းဖြစ်လေသည်။ ထို့နောက် ရုရှားတပ်များ၏အငိုက်တွင် နပိုလီယန်သည် ၎င်း၏တပ်များအား ကိုလိုချာမြစ်ကို ရုတ်တရက်ဖြတ်ကူး စေခဲ့သည်။ ဤတွင် ရုရှားတို့မှာ အငိုက်မိသွားကာ ရင် ဆိုင်တိုက်ပွဲဆင်နွှဲရန် အချိန်မရတော့ဘဲ ၎င်းတို့တပ်စွဲရန် ရည်မှန်းထားသည့် ရှီဗာဒီနိုတောင်ကုန်းပေါ်မှ လက်ဝဲတောင်ပံကို ရုပ်သိမ်းလာခဲ့ရလေသည်။ ထိုသို့ လက်ဝဲ တောင်ပံကို ရုပ်သိမ်းပြီးနောက် ယခင်ကကြိုတင်ရွေး ချယ်ထားခြင်းလည်း မရှိ၊ ပြင်ဆင်ထားခြင်းလည်း မရှိ သော နေရာသစ်တွင် ခံစစ်အနေအထားလိုက်ရသည်။ နပိုလီယန်သည် ကိုလိုချာမြစ် တစ်ဖက်ကမ်းကို ဖြတ်ကူး ခဲ့ပြီးနောက် မော်စကို စမိုးလင့်ပေတစ်ရာလမ်းမကြီး၏ လက်ဝဲဘက်သို့ ဝင်ရောက်လာခဲ့ကာ စစ်မျက်နှာကို (ရုရှား တို့ဘက်မှ ကြည့်လျှင်) လက်ယာဘက်မှ လက်ဝဲဘက်သို့ ပြောင်းပစ်လိုက်ပြီး အူတစ်ဇာ၊ ဆင်မြီနော့နှင့် ဘိုရိုဒီနို အကြားရှိလွင်ပြင်ကို စစ်တလင်းအဖြစ်သို့ ပြောင်းပစ်လိုက် လေသည်။ ထိုလွင်ပြင်ကား ရုရှားတပ်များအဖို့ စစ်မျက်နှာ ဖွင့်ရန် ထူးထူးခြားခြား ကောင်းမွန်လှသည် မဟုတ်ချေ။ ဤသို့သောလွင်ပြင်များမှာ ရုရှားပြည်တစ်ဝန်း၌ မည်သည့် နေရာမဆို တွေ့နိုင်သောလွင်ပြင်မျိုးသာ ဖြစ်လေ

သည်။ ဤသို့ဖြင့် ရုရှားတပ်များသည် ကြိုတင်ပြင်ဆင်ထားခြင်း မရှိသော ခံစစ် အနေအထားသို့ ရောက်ရှိလာကာ ဩဂုတ် လ ၂၆ ရက်နေ့တွင် ဘိုရိုဒီနိုတိုက်ပွဲကြီး ဖြစ်ပွားလေတော့ သည်။ (ရုရှားတို့ တိုက်ခိုက်ရန် ရည်ရွယ်ထားသော စစ် မျက်နှာမြေပုံ နှင့် တကယ့်တိုက်ပွဲဖြစ်ပွားသော စစ်မျက်နှာ မြေပုံတို့ကို တစ်နေရာတွင် ပူးတွဲ ဖော်ပြ လိုက်သည်။) အကယ်၍သာ နပိုလီယန်သည် ဩဂုတ်လ ၂၄ ရက် နေ့ညနေက ကိုလိုချာ မြစ်ကို ဖြတ်ကူးခဲ့ခြင်းလည်း မပြု၊ ရှီဗာဒီနိုခံတပ်ကို ရုတ်တရက်တိုက်ခိုက်ရန် အမိန့်ပေးခဲ့ ခြင်း လည်းမရှိဘဲ နောက်တစ်နေ့နံနက်မှ စတင်၍ ထိုးစစ်ဆင် မည်ဆိုပါက ရှီဗာဒီနိုခံတပ် သည် ရုရှားခံစစ်ကြောင်း၏ လက်ဝဲဘက်တောင်ပံ ဖြစ်နေမည်သာ ဖြစ်လျက် တိုက်ပွဲ သည်လည်း နဂိုကမျှော်လင့်ထားသကဲ့သို့ ကိုလိုချာမြစ် ကမ်းတစ်လျှောက်တွင် ဖြစ်ပွား မည်သာဖြစ်ပေသည်။ ဤ အတိုင်းသာဖြစ်ခဲ့လျှင် ရုရှားတို့သည် ၎င်းတို့၏လက်ဝဲ တောင်ပံဖြစ်သော ရှီဗာဒီနိုခံတပ်ကို ထို့ထက်ကြာရှည်စွာ ကာကွယ်ထိန်းသိမ်းနိုင်မည်သာ ဖြစ်ပေသည်။ ထိုအခါ တွင် နပိုလီယန်၏ထိုးစစ်ကြောင်း ဗဟိုချက်မကိုသော် လည်းကောင်း၊ လက်ယာဘက်တောင်ပံကိုသော် လည်း ကောင်း ရုရှားတို့က အလွယ်တကူ ဝင်ရောက်တိုက်ခိုက် နိုင်မည်ဖြစ်ပြီး တိုက်ပွဲသည်လည်း ယခင်က ပြင်ဆင် ထား သော ခံစစ်ကြောင်းအတိုင်း ဩဂုတ်လ ၂၅ ရက်နေ့တွင် ဖြစ်ပွားခဲ့မည်သာဖြစ်ပေ သည်။ သို့ရာတွင် နပိုလီယန်သည် ရုရှားနောက်ဖျားတပ်များ (ဂရစ်နီဗာတိုက်ပွဲအပြီး) ဆုတ် ခွာလာပြီးနောက် မကြာမီမှာပင် ရုရှားတို့၏ လက်ဝဲ တောင်ပံဖြစ်သော ရှီဗာဒီနို ခံတပ်ကို ရုတ်ခြည်းဝင်ရောက် တိုက်ခိုက်ခဲ့လေသည်။ ဤတွင် ရုရှားတပ်များမှာ ထိုနေ့ တွင် ရင်ဆိုင်တိုက်ပွဲဆင်ရန် ဆန္ဒမရှိသည့်အတွက် (အချိန် မရသောကြောင့်ဟုလည်း ဆို နိုင်ပါသည်။) ဩဂုတ်လ ၂၄ ရက်နေ့တွင် ဖြစ်ပွားသော ဘိုရိုဒီနိုစစ်ပွဲ၏ အရေးကြီး ဆုံး ဗွေဆော်ဦးတိုက်ပွဲတွင် ရုရှားတို့အရေးနိမ့်ကာ ဩဂုတ် လ ၂၆ ရက်နေ့တွင် ဖြစ်ပွားသည့် ရင်ဆိုင်တိုက်ပွဲကြီးတွင် လည်း မရှုမလှဆုတ်ခွာခဲ့ရပြန်လေသည်။

ရှီဗာဒီနိုခံတပ်ကျသွားသည့်နောက် ဩဂုတ်လ ၂၅ရက်နေ့နံနက်တွင်ကား ရုရှားတပ် များ၌ လက်ဝဲတောင်ပံ ကျိုးခဲ့လေပြီ။ ၎င်းတို့၌ လက်ဝဲတောင်ပံအတွက် ခံစစ် အနေအထား မရှိတော့ချေ။ ဤတွင် ရုရှားစစ်ကြောင်း၏ လက်ဝဲတောင်ပံကို ပြန်၍ရုပ်

လာခဲ့ရကာ အနီးဆုံးနေရာ တွင် ကတုတ်ကျင်းများတူး၍ ခုခံရန် ပြင်ဆင်ရလေတော့ သည်။

ဤသို့ဖြင့် ဩဂုတ်လ၂၆ရက်နေ့တွင် ဖြစ်ပွားသော ရင်ဆိုင်တိုက်ပွဲ၌ ရုရှား တပ်မတော်သည် တစ်ဝက်တစ် ပျက်သာပြီးသည့် ကတုတ်ကျင်းများထဲမှ ခုခံခဲ့ရသည်။

ဤသို့ ရုရှားတို့၏ခံစစ်အနေအထားမှာ တောင့်တင်းခြင်း မရှိ။ ဖရိုဖရဲဖြစ်နေသည့် ကြားထဲတွင် ရုရှားတပ်မှူးများက လည်း လက်ဝဲဘက်တောင်ပံမှ ရှီဗာဒီနိုခံတပ်ကျသွား ခြင်းနှင့် စစ်မြေပြင်သည် လက်ယာဘက်မှ လက်ဝဲဘက် သို့ ရွှေ့လာခြင်းစသည့်အချက် များကို ကောင်းစွာသဘော မပေါက်ကြဘဲ ခံစစ်ကြောင်းကို နိုဗိုရွာမှ အူတစ်ဇာအထိ တိုး ချဲ့လိုက်သဖြင့် တိုက်ပွဲအတွင်းမှာပင် တပ်များကို လက်ယာဘက်မှ လက်ဝဲဘက်သို့ ရွှေ့ပြောင်းနေရခြင်း ကြောင့် တိုက်အားလျော့လျက်ရှိပြန်လေသည်။ ဤသို့ဖြင့် တိုက်ပွဲ ဖြစ်ပွားသည့်တစ်ချိန်လုံးတွင်ရုရှားများသည် လက်ဝဲ တောင်ပံကို စုပြုံထိုးနှက်နေသော ပြင်သစ်တပ်ကြီးတစ်တပ် လုံးကို တစ်ဝက်လောက်မျှသာရှိသော တပ်သားဦးရေဖြင့် ခုခံ တိုက်ခိုက်ခဲ့ရလေသည်။ (အူတစ်ဇာတစ်ဝိုက်တွင် ဗိုလ် ချုပ်ပွန်နီယာ ဘိုစကီ၏တပ်များ နှင့် လက်ယာတောင်ပံတွင် ဗိုလ်ချုပ်အူဗာရော့ဗ်၏တပ်များက ပြင်သစ်တို့ကို တိုက် ခိုက် နေခြင်းများရှိသော်လည်း ၎င်းတိုက်ပွဲများမှာ ပင်မ တိုက်ပွဲကြီးနှင့် ဆက်စပ်ခြင်း မရှိပါ။) သို့ဖြစ်ရကား ဘိုရိုဒီနိုတိုက်ပွဲသည် ရာဇဝင်ဆရာများ ရေးသားခဲ့သကဲ့သို့ ရုရှားတို့အဖို့ ကြိုတင်ပြင်ဆင်ထားသော ခံစစ်အနေအထား တွင် ဖြစ်ပွားခဲ့ခြင်း မဟုတ်ချေ။ (ဤ နေရာ၌ ရာဇဝင်ဆရာ များသည် ရုရှားတပ်မတော်နှင့် ရုရှားပြည်သူတို့၏ဂုဏ် သိက္ခာကိုမှ ထောက်ထားငဲ့ညှာခြင်း မရှိဘဲ ရုရှားဗိုလ်ချုပ် များ၏အမှားများကို ဖုံးကွယ်ပေးကာ ရာဇဝင်ကို လိမ် လည်ရေးသားခဲ့ကြခြင်းသာ ဖြစ်လေသည်။)



ဤသို့ဖြင့် ဘိုရိုဒီနိုတိုက်ပွဲသည် ကြိုတင်ရွေးချယ်ကာ ကတုတ်ကျင်း များဖြင့် အခိုင်အမာတည်ဆောက်ထားသော ခံစစ်အနေ အထားတွင် ဖြစ်ပွားခဲ့ခြင်း မဟုတ်ချေ။ ရန်သူအင်အားနှင့် မတိမ်းမယိမ်းသာရှိသော စစ်သည်အင်အားဖြင့် တိုက်ခိုက် ခဲ့ရခြင်းလည်း မဟုတ်ချေ။ ရှီဗာဒီနိုခံတပ်ကျခဲ့သည့် အတွက် ရုရှားတပ်များသည် ကတုတ်ကျင်းများ လုံးဝမရှိ သလောက်ဖြစ်နေသော ကွင်းပြင်ကြီးထဲတွင် ရန်သူအင် အားထက် တစ်ဝက်မျှသာရှိသော စစ်သည်အင်အားဖြင့် * တိုက်ခိုက်ခဲ့ရခြင်းသာ ဖြစ်ပေသည်။ ဤသို့သောခံစစ် အနေအထားတွင် ဤမျှသောအင်အားဖြင့် တိုက်ရခြင်း ကြောင့် သုံးနာရီအတွင်း တပ်ပျက်မပြေးဘဲ ဆယ်နာရီ ကြာ ခုခံတိုက်ခိုက်ခဲ့ခြင်းကိုပင် တော်သေးသည်ဟု ဆိုရ မည် ဖြစ်လေသည်။

# အခန်း ၂၀

ဩဂုတ်လ ၂၅ ရက်နေ့ နံနက်၌ ပီယာသည် မိုဇဟော့ရွာမှ ထွက်ခွာလာခဲ့၏။ ခပ်စောက်စောက်ရှိသော တောင်ကုန်း ပေါ်မှအဆင်း၌ ပီယာသည် ရထားပေါ်မှ ဆင်းကာ ခြေကျင် လျှောက်၍ လာခဲ့လေသည်။ တောင်ကုန်းအောက်ခြေတွင် မြို့မှ ထွက်သော ကွေ့ကောက်သည့်လမ်းကလေးကို မြင် ရ၏။ လမ်းကလေးသည် လက်ယာဘက် ဘုရားရှိခိုး ကျောင်းအနီးမှ ဝိုက်၍ မြို့ပြင်သို့ ဦးတည်လျက် ရှိလေ • သည်။ ဘုရားဝတ်ပြုနေကြချိန်ဖြစ်၍ ဘုရားရှိခိုးကျောင်းမှ ခေါင်းလောင်းသံများကို ကြားရလေသည်။ ပီယာ၏နောက် မှလည်း မြင်းတပ်ရင်းတစ်ခုသည် စစ်ချီသီချင်းများ ဆို ကာ တောင်ကုန်းအောက်သို့ဆင်းလာလေသည်။ ယမန်နေ့ တိုက်ပွဲတွင် ဒဏ်ရာရသူများကို တင်ဆောင်လာသည့် လှည်းတန်းကြီးသည် တောင်ကုန်း အောက်ခြေမှ တက်လာ သည်ကို တွေ့ရ၏။ ကျေးတောသား လှည်းသမားများသည် ဆူညံစွာအော်ဟစ်လျက် ကြာပွတ်များဖြင့် မြင်းများ ကို တရှမ်းရှမ်းရိုက်ကာ ကုန်းအတက်တွင် လှည်းများကို တရကြမ်းမောင်းလာကြ၏။ လှည်းတစ်စီးစီ၌ ဒဏ်ရာရသူ သုံးလေးယောက်စီ လိုက်ပါလာကြပြီး အချို့မှာ လဲလျောင်း လျက် အချို့ကား ထိုင်လျက်ရှိကြ၏။ လှည်းဆောင့်လိုက် တိုင်း လှည်းပေါ်၌ လိုက်ပါလာသူများသည် အထက်သို့ မြောက်တက်သွားကြလေသည်။ ဒဏ်ရာရသူများမှာ အဝတ် စုတ်များဖြင့် စည်းနှောင်ထားကြကာ ဖြူရော်၍ သွေးရောင် ကင်းမဲ့လျက်ရှိသော မျက်နှာများ၊ တင်းကျပ်စွာစေ့ထား သောပါးစပ်များ၊ တွန့်နေသော မျက်ခုံးများဖြင့် လှည်း ဆောင့်လိုက်တိုင်း လှည်းရံတိုင်ကို ကိုင်၍ လိုက်ပါလာ ကြ၏။ ၎င်းတို့အားလုံးသည် ဦးထုပ်ဖြူ၊ ပျံလွှားတောင် အမြီးနှစ်ခွ အစိမ်းတို့ကို ဝတ်ဆင်ထားသည့် ပီယာကို အထူးအဆန်းသဖွယ် ၍ကြည့်နေကြသည်။

ပီယာ၏ရထားသမားသည် လူနာတင်လှည်းများ ကို မောင်းလာသော လှည်းသမားများအား လမ်းတစ်ဖက် တည်းတွင် ကပ်မောင်းရန် ဒေါသတကြီး အော်ဟစ်ပြော ဆိုလျက် ရှိလေသည်။ ပီယာ၏ရထားနောက်မှ သီချင်း တကြော်ကြော်ဆို၍ ဆင်းလိုက်လာသော မြင်းတပ်သား များသည် ပီယာ၏ရထား ကို မီလာကြကာ ပီယာ၏ရထား အနီး၌ ဝိုင်းအုံလျက်ရှိသဖြင့် လမ်းပိတ်လျက်ရှိ လေသည်။ ပီယာမှာ နောက်မှဆင်းလာသောမြင်းတပ်နှင့် ရှေ့မှတက် လာသော လူနာတင်လှည်းများကြားတွင် ညပ်နေကာ ရှေ့ဆက်သွား၍ မရတော့သဖြင့် လမ်း ဘေးကမ်းပါးနား တွင် ကပ်ပြီးရပ်နေလိုက်သည်။ ကမ်းပါးအောက်တွင်ကား နေရောင်ခြည် ကျရောက်ခြင်းမရှိသဖြင့် အေးမြ စိုစွတ် လျက်ရှိ၏။ သို့ရာတွင် ပီ ယာ၏ခေါင်းပေါ်၌ကား ဩဂုတ် လ၏နေရောင်ခြည်သည် ထွန်းလင်းစွာ တောက်ပလျက် ရှိကာ ခေါင်းလောင်းသံများသည်လည်း ရွှင်မြူး သွက်လက် စွာ မြည်ဟည်းလျက် ရှိကြသည်။ လူနာများတင်ထား သော လှည်းတစ်စီးသည် ပီယာ အနီးကပ်လျက် လမ်းဘေး တွင် ထိုးရပ်လိုက်သည်။ လျှော်ဖိနပ်ကို စီးထားသည့် လှည်း သမားသည် နောက်မှ မောကြီးပန်းကြီး ပြေးတက်လာ ကာ သံပတ်ခွေမရှိ သော လှည်းဘီးနောက်တွင် ကျောက်ခဲ တစ်လုံးကို လိုက်ပြီးနောက် လှည်းတွင် တပ်ထားသည့် မြင်းပုကလေး၏တင်ပါးကို ပွတ်သပ်ပေးလျက်ရှိ၏။ “

လက်မောင်းတွင် ပတ်တီးစည်း၍ လှည်းနောက်မှ ခြေလျင်လိုက်လာသော ဒဏ်ရာရသည့် အသက်ခပ်ကြီး ကြီး စစ်သားသည် မြင်းပုလေးကို ကျန်လက် တစ်ဖက်ဖြင့် လှမ်းပုတ်လိုက်ပြီး ကို

”ါ ဆရာလေး၊ ဒီလှည်းသမားက ကျုပ်တို့ကို  ဒီနေရာတွင် ချပစ်ခဲ့တော့မှာ တဲ့လားဗျ၊ မော်စကို ရောက် အောင် လိုက်မပို့တော့ဘူးတဲ့လား”

ပီယာသည် ကိုယ့်အတွေးထဲတွင် နစ်မြုပ်လျက် ရှိခြင်းကြောင့် စစ်သား၏စကားကို မကြားလိုက်ချေ။ ပီယာသည် နောက်မှ ဆင်းလိုက်လာသော မြင်းတပ်များ ကို တစ်လှည့်၊ မိမိအနီးတွင် ရပ်လျက်ရှိသော လူနာတင် လှည်းကို တစ်လှည့်ကြည့်နေမိသည်။ လူနာတင်လှည်း ပေါ်တွင်ကား ဒဏ်ရာရလာသော စစ်သားနှစ်ယောက် ထိုင်လျက်ရှိ၍ တစ်ယောက်မှာ လဲလျောင်းလျက်ရှိ၏။ ထိုင်နေသော စစ်သားနှစ်ယောက်အနက် တစ်ယောက် မှာ ပါးတွင် ဒဏ်ရာရလာဟန်တူ၏။ ခေါင်းတစ်ခုလုံးကို အဝတ်စုတ်များဖြင့် စည်းနှောင်ထားလျက်ရှိပြီး ပါးတစ်ဖက် မှာ မွေးကင်းစကလေး၏ခေါင်းပမာဏမျှ ဖူးဖူးရောင် လျက် ရှိလေသည်။ ၎င်း၏နှာခေါင်းနှင့် ပါးစပ်သည် တစ်ဖက်သို့ ရွဲ့လျက် ရှိ၏။ ထိုစစ်သားသည် ဘုရားရှိခိုး ကျောင်းကို လှမ်းမျှော်ကြည့်ရှုပြီးနောက် လက်နှစ်ဖက်ကို ယှက်၍ ဆုတောင်းနေသည်။ အခြားတစ်ယောက်ကား အသက်ငယ်ငယ်၊ ဆံပင်ကောင်းကောင်းနှင့် တပ်သားသစ် ကလေးတစ်ယောက် ဖြစ်၏။ ၎င်း၏ပိန်ချုံးသောမျက်နှာ သည် လုံးဝ သွေးမရှိတော့သကဲ့သို့ ဖြူလျက်ရှိ၏။ ထို တပ်သား သစ်ကလေးသည် ပီယာကို ပြုံး၍ ကြည့်နေ လေသည်။ တတိယတစ်ယောက်ကိုကား လှည်းပေါ်တွင် ဝမ်းလျားမှောက်လျက်ရှိခြင်းကြောင့် မျက်နှာကို မမြင်ရ ချေ။ မြင်းတပ်သားများသည် စစ်ချီသီချင်းကို ဆိုကာ လှည်းနားမှ ဖြတ်သွားကြ၏။

"သေသည် ရှင်သည် တို့ မမှုတော့သည်။ မိစ္ဆာမျိုးယုတ်တို့ကို အမြစ်ပါ ဖြုတ်မည်" ၎င်းတို့၏စစ်ချီသီချင်းသည် တက်ကြွရွှင်မြူးဖွယ် ကောင်း၏။ ၎င်းတို့၏တက်ကြွရွှင်မြူးခြင်းကို ဩဘာ ပေးသည့်အနေဖြင့် ဘုရားရှိခိုးကျောင်းမှ ဒင်ဒင်မြည်သော ခေါင်းလောင်းသံများသည် ပတ်ဝန်းကျင်တွင် ပဲ့တင်ထပ် လျက်ရှိ၏။ ပူနွေးသောနေရောင်ခြည်များကလည်း တစ် ဖက်ရှိကမ်းပါးပေါ်သို့ ဖြာကျလျက် ရှိကြ၏။ သို့ရာတွင် ပီယာနှင့်တကွ ဒဏ်ရာရလာသော စစ်သားလူနာများ

ကို တင်လာသည့်လှည်းရပ်ထားရာ တစ်ဖက်ကမ်းပါးရိပ်၌ ကား စိုစွတ်အေးမြကာ စိတ်မချမ်းမြေ့ဖွယ်အသွင်ကို ဆောင်လျက်ရှိလေသည်။

ပါးတစ်ဖက် ဖူးဖူးရောင်နေသည့် တပ်သားသည် မြင်းတပ်သားများကို ဒေါသတကြီးဖြင့် လှမ်းကြည့်လိုက် ပြီးနောက် "ခွေးသားတွေ၊ ပေါ်ကြော့တွေ" ဟု လှမ်းဆဲ လိုက်သည်။

"ခုစစ်ပွဲက စစ်သားတွေတင် စစ်မြေပြင်သွားရ တာ မဟုတ်ဘူးဗျ၊ လယ်သမားတွေလည်း စစ်မြေပြင်သွားရ တာပဲ၊ စစ်သားရယ်၊ လယ်သမားရယ် ခွဲခြားနေလို့ မရ တော့ဘူး၊ ခွေးသားပြင်သစ်ကောင်တွေဟာ လူမျိုးတစ်မျိုး လုံးကို ဒုက္ခပေးနေပြီ၊ မော်စကိုကို အမြန်သိမ်းဖို့ တရ ကြမ်း တိုက်နေကြပြီ"

လှည်းနောက်တွင် ရပ်လျက်ရှိသော စစ်သားက ပီယာကို စိတ်မချမ်းမြေ့စွာ ပြုံးပြ၍ ပြောလိုက်၏။

ပီယာသည် စစ်သား၏စကားကို သဲကွဲစွာ မကြား လိုက်ရသော်လည်း အဓိပ္ပာယ်ကိုနားလည်သဖြင့် ခေါင်း ညိတ်၍ ပြလိုက်သည်။

လမ်းမှာ အခိုက်အတန့်ရှင်း၍ သွားပြန်လေပြီ။ - ထို့ကြောင့် ပီယာသည် တောင်ကုန်းပေါ်မှ ဆင်းလာကာ ရထားကို ဆက်မောင်းလာခဲ့၏။

ရထားပေါ်မှနေ၍လည်း လမ်းဘေးတစ်ဖက်တစ် ချက်ရှိ ဝတ်စုံအမျိုးမျိုး ဝတ်ထားသော စစ်သားအုပ်ကြီး ထဲသို့ အသိမိတ်ဆွေ တွေ့လိုတွေ့ငြား လှမ်း မျှော်၍ ကြည့် . လာခဲ့၏။ စစ်သား လာမူ။ စစ်သားများကလည်း ပီယာ၏ဦးထုပ်ဖြူ နှင့် အစိမ်းရောင် နှစ်ဖက်မြီးခွအင်္ကျီကို တအံ့တသြ ကြည့်သွား ကြလေသည်။

သို့ဖြင့် သုံးမိုင်ခန့်သွားမိသောအခါတွင် ပီယာသည် အသိတစ်ယောက်ကို မြင်လိုက်သဖြင့် ဝမ်းသာအားရအော် ဟစ် နှုတ်ဆက်လိုက်သည်။ ထိုသူမှာ စစ်တပ်

ဆရာဝန် တစ်ဦးဖြစ်၏။ စစ်တပ်ဆရာဝန်သည် ပေါင်းမိုးမိုးထား သော ရထား ကလေးပေါ်တွင် လိုက်ပါလာ၏။ ၎င်း၏ နောက်မှလည်း အသက်ခပ်ငယ်ငယ် အခွဲအစိတ်ဆရာဝန် တစ်ဦး ထိုင်လိုက်လာလေသည်။ ပီယာအနီးသို့ ရောက် လတ် သော် ဆရာဝန်က ရထားမောင်းသည့် ကော့ဆက် တပ်သားအား ရပ်ရန် အမိန့် ပေးလိုက်သည်။

"အလို မြို့စားလေးပါလား၊ ဘာကိစ္စ ဒီကို ရောက် လာတာလဲ" ဆရာဝန်က မေးလိုက်၏ .

"အေးဗျ၊ ကျွန်တော် ကျွန်တော် ကြည့်ချင်တာ ကလေးတစ်ခု"

"အဲ အဲ ကြည့်စရာတွေကတော့ တစ်ခုတောင် မကဘူးဗျ။ အများကြီးပဲ"

ပီယာသည် ရထားမှ ဆင်းကာ မိမိသည် တိုက်ပွဲ တွင် ပါဝင်တိုက်ခိုက်လို သဖြင့် စစ်မြေပြင်သို့ ရောက်ရှိလာ ခြင်းဖြစ်ကြောင်း ဆရာဝန်အား ရှင်းလင်းပြော ပြလျက်ရှိ၏။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်ထံ တိုက်ရိုက် လျှောက်ထားရန် ဆရာဝန် က ပီယော့ကို အကြံပေးလိုက် သည်။

"ဒီလောက်ပြင်းပြင်းထန်ထန် တိုက်ပွဲဖြစ်နေတဲ့ ကြားထဲ လိုက်လာတာ ကျွန်တော်ဖြင့် အံ့ပါရဲ့ဗျာ" ဆရာဝန်က ၎င်း၏အဖော် အခွဲစိတ်ဆရာဝန်ကလေး ဘက်သို့ လှည့်ကြည့်၍ ပြောလိုက်သည်။ "အေးလေ မြို့ စားကလေးက တိုက်ချင် တယ်ဆိုရင်တော့ စစ်သေနာပတိ ချုပ်ဆီကို သွားပေါ့၊ စစ်သေနာပတိချုပ်က မြို့စားကလေး ကိုလဲ ကောင်းကောင်းသိနေတာပဲ၊ ခုလို ကိုယ်တိုင် ပါ ဝင် တိုက်ခိုက်ချင်သပဆိုရင် ဝမ်းမြောက်ဝမ်းသာ လက်ခံ လိမ့်မယ် ထင်ပါတယ်" ။

ဆရာဝန်မှာ ပင်ပန်းနွမ်းနယ်လျက်ရှိသဖြင့် အနား ယူလိုသည့်ဟန်ဖြင့် စကားကို ခပ်တိုတို ဖြတ်လိုက်၏။

"အေးဗျာ၊ စစ်သေနာပတိချုပ်က လက်ခံမယ်ဆို ရင်တော့ ဟန်ကျတာပေါ့၊ ဒါ့ထက် နေစမ်းပါဦး ဆရာရဲ့၊ ကျွန်တော်တို့ ခံစစ်အနေအထားက ဘယ်လိုရှိနေသလဲ။ ခံစစ်ကြောင်းက ဘယ်နားမှာလဲ"

"အဲဒီကိစ္စက ကျွန်တော်နဲ့ မဆိုင်လို့ ကျွန်တော် ကောင်းကောင်း မသိဘူးခင်ဗျ။ ဒါပေမဲ့ ဆက်သာမောင်း သွားပါ၊ တာတာရီနိုဗို ဟိုဘက်မှာတော့ ကတုတ်ကျင်း တွေ တူးနေတာပဲ၊ အဲဒီနားတစ်ဝိုက်မှာပဲ ဖြစ်လိမ့်မယ် ထင်တယ်၊ တောင်ပူစာကလေးပေါ်က တက်ကြည့်ရင် မြင်ရပါတယ်"

"အို ဟုတ်လား၊ ဒီတောင်ပူစာကလေးပေါ်က တက်ကြည့်ရင် မြင်ရသလား၊ ဆရာအားရင် ကျွန်တော်နဲ့"

ဆရာဝန်က စကားဖြတ်လိုက်၍ ရထားဆီသို့ လှမ်းလိုက်ရင်း "

"လိုက်တော့ လိုက်ချင်ပါတယ် မြို့စားလေး၊ ဒါပေမဲ့ ကျွန်တော့်မှာ ပြဿနာတွေ ဒီဆိုက်နေပြီ" ဆရာဝန်က လည်ပင်းကိုလက်ညှိုးထိုးပြသည်။ "ခုဆေး တပ်ဖွဲ့မှူးဆီကို သွားမလို့၊ အခြေအနေကတော့ သိပ် မကောင်းဘူး မြို့စားကလေး၊ မနက်ဖြန်မှာ တိုက်ပွဲကြီး ကြီးကျယ်ကျယ် ဖြစ်လိမ့်မယ်ထင်တယ်၊ ကျွန်တော်တို့ တပ်သားတစ်သိန်းရှိတဲ့အနက် အနည်းဆုံး နှစ်သောင်း လောက် ဒဏ်ရာ ရလိမ့်မယ်လို့ မျှော်လင့်ထားတယ်၊ ဒါပေမဲ့ ခု ကျွန်တော်တို့မှာ ဘာမှလုံလုံလောက်လောက် မရှိဘူး၊ ထမ်းစင်တွေလဲ မရှိဘူး၊ ဆေးသေတ္တာလဲ မလုံလောက်ဘူး၊ ပတ်တီးလဲ မရှိဘူး၊ ပြီးတော့ လူခြောက် ထောင်လောက်အတွက် ဆရာဝန်လဲ မရှိဘူး၊ ခု ကျွန်တော် တို့မှာ အားလုံး လှည်းတစ်သောင်းလောက်ပဲ ရှိ

တယ်၊ ဒီပြင်ပစ္စည်းတွေကလဲ ဘာမှစုံစုံလင်လင် မရှိဘူး၊ အေးလေ အကောင်းဆုံး ဖြစ်အောင်တော့ ကြိုးစားရမှာပဲ”

ထောင်ပေါင်းများစွာသော စစ်သားအို၊ စစ်သားပျို၊ စစ်သားကြီး၊ စစ်သားငယ်တို့သည် ပီယာ၏ဦးထုပ်ဖြူ ကို တအံ့တသြကြည့်သွားကြ၏။ ဤသူတို့အနက် နက်ဖြန် တွင် နှစ်သောင်းခန့်တို့သည် ဒဏ်ရာရ၍ သေကြေပျက် စီးကြရတော့မည်ဟု ကြားလိုက်ရသောအခါ ပီယာသည် အံ့အားသင့်၍ သွားလေသည်။ (ထိုအထဲတွင် မိမိမြင် လိုက်ရသူများလည်း ပါပေလိမ့်မည်။)

”အင်း မနက်ဖြန်မှာ သူတို့ သေကြရတော့မယ်။ သူတို့ဟာ မနက်ဖြန်မှာ အသက်နဲ့ ခန္ဓာ အိုးစားကွဲရတော့ မယ်ဆိုတာကို လုံးလုံးထည့်ပြီး စဉ်းစားမိပုံ မရကြဘူး”

ပီယာသည် ဤသို့တွေးရင်း မိုဇဟော့တောင်ကုန်း လမ်းဆင်းကိုလည်းကောင်း၊ လူနာများတင်လာသောလှည်း များကို လည်းကောင်း၊ တဒင်ဒင်မြည်ဟည်းသော ခေါင်း လောင်းသံများကိုလည်းကောင်း၊ နေရောင်ခြည်များကိုလည်းကောင်း၊ မြင်းတပ်သားများ၏ သီချင်းသံများကို လည်းကောင်း ကြားယောင်မြင်ယောင်လာပြန်သည်။

“အင်း မြင်းတပ်သားတွေဟာ စစ်မြေပြင်ကို ထွက်ခဲ့ကြတယ်၊ လမ်းမှာ ဒဏ်ရာရသူတွေကို တွေ့ကြ ပေမယ့် ရှေ့မှာ သူတို့ရင်ဆိုင်ရမယ့်အန္တရာယ်ကို တွေးမိပုံ မရကြသေးဘူး၊ ဒဏ်ရာရတဲ့သူတွေကိုတောင် မျက်စိမှိတ် ပြီး ပြောင်ပြသွားကြသေးတယ်၊ ငါ့ဦးထုပ်ကိုတောင် ကြည့်သွားကြသေးတယ်၊ ဒါပေမဲ့ ဒီတပ်သားတွေအနက်  နှစ်သောင်းလောက်ဟာ မနက်ဖြန်မှာ သေကြရတော့မယ်။ ပျက်စီးကြရတော့မယ်၊ သူတို့မှာ သေခြင်းတရားကို မမြင်နိုင်ကြပါကလား၊ တော်တော်တော့ဆန်းတာပဲ”

ပီယာသည် ဤသို့တွေးရင်း တာတာရီနိုဗိုသို့ ဆက်၍လာခဲ့လေသည်။

လမ်း၏လက်ဝဲဘက်တွင် ရှိသော တောမြေပိုင်ရှင် တစ်ဦး၏ အိမ်တစ်ဆောင်ရှေ့၌ ကရထားများ၊ ဝန်တင် လှည်းများ၊ တပ်လုလင်များနှင့် အစောင့်စစ်သားများ ရပ်နေသည်ကို တွေ့ရ၏။ ထိုနေရာကား စစ်သေနာပတိ ချုပ်ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် စခန်းချနေသောနေရာ ဖြစ် လေသည်။ သို့ရာတွင် ပီယာရောက်သွားသည့်အချိန်၌ စစ်သေနာပတိချုပ်သည်လည်းကောင်း၊ စစ်သေနာပတိချုပ် ၏လက်အောက် အမှုထမ်းများသည် လည်းကောင်း အိမ် တွင်မရှိကြဘဲ သုဓမ္မာဇရပ်သို့ သွား၍ ဘုရားဝတ်ပြုလျက် ရှိကြ၏။ ပီယာသည် ရထားကို ဂေါ်ကီရွာကလေးဘက် သို့ မောင်းလာခဲ့သည်။

တောင်ကုန်းပေါ်မှ ဆင်းခဲ့၍ ရွာလမ်းကလေးသို့ ရောက်သည်နှင့် အရေးပေါ်စစ်သည်စုများကို ပထမဆုံး အကြိမ် ပီယာမြင်ရလေသည်။ ၎င်းတို့သည် အဖြူရောင် အင်္ကျီများကို ဝတ်ထားကြ၍ ဦးထုပ်တွင် ကြက်ခြေခတ် အမှတ်အသားအားတပ်ဆင်ထားကြပြီး လမ်း၏လက်ယာ ဘက်ရှိ ပေါင်းမြက်ပင်တို့ ထူထပ်စွာ ပေါက်လျက်ရှိသော တောင်ပူစာတစ်လုံးကို ဖြိုချနေကြ၏။ ၎င်းတို့ကိုယ်တွင် ချွေးအလိမ်းလိမ်းကပ်လျက်ရှိ၏။ အလုပ်လုပ်ရင်းဆူညံစွာ စကားပြောကာ နောက်ပြောင်ရယ်မောလျက် ရှိကြလေ သည်။

၎င်းတို့အနက် အချို့သည် ကတုတ်ကျင်းများကို တူးလျက်ရှိ၍ အချို့မှာ လက်တွန်းလှည်းကလေးများဖြင့် မြေစာများကို စုပုံသွန်ပစ်နေကြ၏။ အချို့ကား မည်သည့် အလုပ်ကိုမျှ မည်မည်ရရ မလုပ်ဘဲ ယောင်ဝါးဝါးလုပ်နေ ကြသည်။

တပ်ဗိုလ်နှစ်ယောက်သည် တောင်ပူစာထိပ်တွင် ရပ်၍ အရေးပေါ်စစ်သည်စုများအား စီမံခန့်ခွဲလျက် ရှိ၏။ အရေးပေါ်စစ်သည်စုများကား ယခင်က လယ်သမားများ ဖြစ်ကြ၏။ ယခုအချိန်၌ကား ၎င်းတို့သည် စစ်သားတစ် ဖြစ်လဲ

ဘဝကို အသစ်အဆန်းဖြစ်လျက်ရှိကာ ရွှင်မြူး  လျက် ရှိကြလေသည်။ ပီယာသည် ခပ်စောစောက မိုဇဟော့ တောင်ကုန်းအဆင်းတွင် တွေ့ခဲ့ရသောလူနာများကို မြင်ယောင်လာပြန်သည်။ "စစ်သားရယ် လယ်သမားရယ် ခွဲခြားနေလို့ မရတော့ဘူးဗျ" ဟူသော ဒဏ်ရာရစစ်သား၏ စကားများကိုလည်း ကြားယောင်လာပြန်သည်။ လေးလံ သောခြေစွပ်ဖိနပ်ကြီးများကို စီးလျက် ကုပ်တွင် ချွေးသံ အလိမ်းလိမ်းကပ်ကာ အင်္ကျီကြယ်သီးမတပ်ဘဲ နေလောင် ထားသော ရင်ဘတ်ကြီးများ ဟင်းလင်းဖော်ထားပြီး မုတ် ဆိတ်မွေးထူလပျစ်နှင့် ဖြစ်နေသော ဤလယ်သမားကြီး များကို စစ်မြေပြင်တွင် တွေ့မြင်လိုက်ရသည့်အခါ၌ကား ပီယာ၏စိတ်တွင် လာလတ္တံ့သောတိုက်ပွဲသည် မည်မျှ အရေးကြီးသော တိုက်ပွဲဖြစ်ကြောင်း ပို၍ သဘောပေါက် လာလေတော့သည်။

# အခန်း ၂၁

ပီယာသည် ရထားပေါ်မှဆင်းကာ တလှုပ်လှုပ် တရွရွ လုပ်နေကြသော အရေးပေါ်စစ်သည်စုများကြားမှ ဖြတ်၍ တောင်ပူစာကလေးပေါ်သို့ တက်လာခဲ့၏။ ထိုတောင်ပူစာ ကလေးပေါ်မှ စီး၍ကြည့်လျှင် စစ်မြေပြင်ကို လှမ်းမြင် နေရသည်ဟု ဆရာဝန်ကပြောပြလေသည်။

အချိန်မှာ နံနက်ဆယ့်တစ်ချက်တီးခန့် ရှိလေပြီ။ နေဝန်းသည် ပီယာ၏နောက်ကျောဘက်သို့ ရောက်လျက် ရှိပြီး လက်ဝဲဘက်ခပ်ယွန်းယွန်းမှ ထွန်းလင်းလျက်ရှိရာ နေရောင်ခြည်များသည် ပတ်ပတ်လည်တွင် တောင်တန်းများ ကာဆီးပိတ်ဆို့လျက်ရှိသော မြင်ကွင်းကျယ်ကြီးပေါ် သို့ ဖြာကျလျက် ရှိပေ၏။

တောင်တန်းများပတ်ပတ်လည် ကာဆီးထားသည့် ကသိုဏ်းဝန်းကြီး၏ လက်ဝဲဘက်ခပ်ကျကျ၌ ကွေ့ကောက် လျက်ရှိသော စမိုးလင့် ပေတစ်ရာလမ်းမကြီးကို မြင်ရ၏။

ပေတစ်ရာလမ်းမကြီးသည် တောင်ပူစာကလေး၏ အောက် ၊ ခြေ၊ အလှမ်း ငါးရာခန့် ကွာဝေးသောနေရာရှိ ဘုရားရှိခိုး ကျောင်းဖြူဖြူလေးနှင့် ရွာကလေးထဲသို့ ဖြတ်သွား၏။ ထိုရွာကလေးကား ဘိုရိုဒီနို ရွာကလေးပေတည်း။ ရွာ ကလေးကို လွန်လျှင် ပေတစ်ရာလမ်းမကြီးသည် မြစ်တစ်ခု ကို တံတားအတိုင်းဖြတ်ကျော်ကာ ကွေ့ကောက်နိမ့်ဆင်း သွားပြီးမှ တဖြည်းဖြည်းမော့တက်သွားလျက် လေးမိုင် ခန့်အကွာတွင် လှမ်း၍ မြင်နေရသော ဗာလူယေဗိုရွာ -ကလေးဆီသို့ ဦးတည်လျက်ရှိ၏။ ဗာလူယေဗိုရွာလေး မှာ နပိုလီယန်စခန်းချလျက်ရှိသော ရွာကလေးဖြစ်ပေ သည်။ ဗာလူယေဗိုရွာကိုလွန်သော် ပေတစ်ရာလမ်းမ ကြီးသည် မိုးကုတ်စက်ဝိုင်းအောက်တွင် ရွက်ကျင်ရွက် ဟောင်းတို့ဖြင့် ဝါကြန့်လျက်ရှိသည့် တောအုပ်တစ်ခုထဲသို့ ဝင်ရောက်ပျောက်ကွယ်သွား၏။ တောအုပ်ထဲရှိ ပေတစ်ရာလမ်းမကြီး၏ လက်ယာဘက်၌ကား ကိုလိုချာတောရ ကျောင်းမှ ခေါင်းလောင်းစင်များနှင့် စုလစ်မွမ်းချွန်များ သည် နေရောင်တွင် တောက်ပလျက်ရှိကြ၏။ တစ်ဝန်းတစ်လျားကြီးရှိနေသည့် ပြာမှိုင်းသော မိုးကုတ်စက်ဝိုင်း တစ်လျှောက်၌ကား မီးခိုးတလူလူထွက်နေသည့် စခန်းမီးပုံ များ၊ ရန်သူတပ်များနှင့် ရုရှားတပ်များ၏လှုပ်ရှားမှုများ ကို ကွက်ကျားကွက်ကျား မြင်နေရ၏။ လက်ယာဘက်ရှိ ကိုလိုချာမြစ်နှင့် မော်စကာဗာမြစ်ရိုးတစ်လျှောက်ကား တောတောင်လျှိုမြောင်၊ ခင်တန်း၊ ကမူတို့ဖြင့် ပြည့်လျက် ရှိ၏။ တောင်ကုန်းများကြားမှနေ၍ အဝေးရှိ ဘိုဗာ နှင့် ဇာခါရီနိုရွာကလေးနှစ်ရွာကို မှုန်မှုန်ပျပျ မြင်ရသည်။ လက်ဝဲဘက်ရှုခင်းကား ပြန့်ပြူးညီညာသောမြေပြန့်လွင် ပြင်ကြီးဖြစ်လေသည်း လယ်ကွင်းများနှင့်

တကွ မီးရှို့ထား သဖြင့် မီးခိုးတလူလူထွက်လျက်ရှိသေးသော ဆင်မြီးနေ့ ရွာကလေးကို မြင်ရပေသည်။

ပီယာမြင်လိုက်ရသည့်ရှုခင်းမှာ ဝါးလျက်ရှိသည် ဖြစ်၍ လက်ဝဲဘက်ကိုပင် ကြည့်ကြည့်၊ လက်ယာဘက်ကို ပင်ကြည့်ကြည့် မိမိစိတ်ကူးဖြင့် မျှော်လင့်ထားသည့် ခံစစ် အနေအထားကို မမြင်ရချေ။ စိတ်ကူးဖြင့် မျှော်လင့်ထား သောဝစ်မြေပြင်ကိုလည်း မတွေ့ရချေ။ လယ်ကွင်းများ၊ စားကျက်များ၊ စစ်တပ်များ၊ လှျိုမြောင်ခင်တန်းများ၊ စခန်းမီးပုံများမှ မီးခိုးများ၊ ရွာကလေးများ၊ တောင်ပူစာကလေးများနှင့် ချောင်းကလေးများကိုသာ မြင်ရပေ၏။ ဝဝ်သည် တပ်သားတို့ဖြင့် တင်းကြမ်းပြည့်လျက်ရှိသော “စဝ်ကြောင်း'ဟုခေါ်နိုင်သည့်အရာဆို၍ တစ်ခုမျှ မတွေ့ ရချေ။

ပီယာသည် တခ်ယောက်ယောက်ထံ စုံစမ်းအံ့ဟု အကြံပြုလျက် စစ်ဟန်စစ်မှု လုံးဝမရှိသော မိမိ၏ခန္ဓာ ကိုယ်ကြီးကို အထူးအဆန်းသဖွင့် ကြည့်လျက်ရှိသည့် တပ်ဗိုလ်တစ်ဦးကို လှမ်းမေးလိုက်၏။

“ငါ့ သွေးသောက် ရှေ့က ဘာရွာလဲဗျ”

“ဘာဒီနိုရွာထင်တယ်ဗျ၊ ဟုတ်လား” ထိုတပ်ဗိုလ် က အဖော်ဘက်သို့ လှည့်၍ မေးလိုက်သည်။

“ဘိုရိုဒီနိုပါ” အဖော်က ပြန်၍ ပြောလိုက်သည်။

တပ်ဗိုလ်သည် စကားစမြည် ပြောခွင့်ရသည့် အတွက် ဝမ်းသာလျက်ရှိသည့် ဟန်ဖြင့် ပီယာအနီးသို့ ရောက်လာသည်။

“ဟိုရှေ့က မည်းမည်း မည်းမည်းဟာတွေကကော ကျွန်တော်တို့ တပ်တွေလား” ပီယာက မေးလိုက်သည်။

"ဟုတ်တယ်၊ ဟိုအဝေးကြီးက မည်းမည်း မည်း မည်းနဲ့ လှမ်းမြင်နေရတာတွေကတော့ ပြင်သစ်တွေ၊ ဟော ဟော လှုပ်လှုပ် လှုပ်လှုပ်နဲ့ မြင်ရတယ် မဟုတ်လား" တပ်ဗိုလ်က ပြောလိုက်သည်။

"ဘယ်မှာလဲ ဘယ်မှာလဲ" ပီယာကမေးလိုက် သည်။

"ထင်းထင်းကြီး မြင်နေရတယ်လေဗျာ"

တပ်ဗိုလ်သည် မြစ်တစ်ဖက်ကမ်း လက်ဝဲဘက် ခပ်ကျကျတွင် မြင်ရသည့် မီးခိုးလုံးများဆီသို့ ညွှန်ပြ၏။ ပီယာတွေ့မြင်ခဲ့ရသူများ၏ မျက်နှာများကဲ့သို့ တင်းမာ ခက်ထန်သောအသွင်သည် ၎င်း၏မျက်နှာပေါ်တွင် ပေါ် လာ၏။

"ဩ အဲဒါတွေက ပြင်သစ်တပ်တွေလား၊ ဟိုဘက် မှာကော" ပီယာက လက်ဝဲဘက်ရှိ တောင်ပူစာတစ်ခုကို ညွှန်ပြ၍မေးလိုက်ပြန်သည်။ တောင်ပူအနီးတစ်ဝိုက် တွင် လှုပ်လှုပ်ရွရွဖြစ်နေသော တပ်များကို မြင်ရသည်။

"အဲဒါက ကျွန်တော်တို့တပ်တွေ"

"ဩ ကျွန်တော်တို့ တပ်တွေကိုး၊ ဟိုဘက်က ကော" ပီယာက ချိုင့်ဝှမ်းထဲက ရွာကလေးတစ်ရွာအနီး ရှိ အဓိကရသစ်ပင်ကြီးတစ်ပင်ပေါက်နေသော တောင်ပူစာ ကလေးတစ်ခုကိုညွှန်ပြ၍ မေးလိုက်ပြန်သည်။ ထိုနေရာ အနီးတစ်ဝိုက်တွင်လည်း မီးခိုးများ တလူလူထွက်လျက် ရှိကာ လှုပ်ရှားနေသော မည်းမည်းသဏ္ဌာန်များကို မြင်ရ ၏။

"ဒါ သူတို့တပ်တွေ" တပ်ဗိုလ်က ပြောလိုက်၏။

(ထိုနေရာမှာ ရှီဗာဒီနိုခံတပ် ဖြစ်လေသည်။) "မနေ့တုန်း ကတော့ အဲဒီခံတပ်က ကျွန်တော်တို့ ခံတပ်ပဲ၊ ဒီနေ့တော့ သူတို့ခံတပ် ဖြစ်သွားပြီ"

“နေစမ်းပါဦး၊ ကျွန်တော်တို့ ခံစစ်အနေအထား ကကော ဘယ်လိုလဲ”

“သော် ကျွန်တော်တို့ခံစစ်အနေအထားလား” တပ်ဗိုလ်က ကျေနပ်စွာပြုံး၍ ပြောလိုက်သည်။ “သိရ မယ် သိရမယ်၊ ဒီနားတစ်ဝိုက်က ကတုတ်ကျင်းတွေကို ကျွန်တော်ပဲ ဦးစီးတူးခဲ့တာပဲ၊ ဟောဟိုက သစ်ပင်အုပ် အုပ်နဲ့ ရွာကလေးကို မြင် တယ် မဟုတ်လား၊ ဘုရားရှိခိုး ကျောင်း ဖြူဖြူကလေးလဲ ရှိတယ်လေ၊ အဲဒါ ဘိုရိုဒီ နိုရွာပဲ။ ကျွန်တော်တို့ခံစစ်ကြောင်းရဲ့ ဗဟိုချက်မပဲ၊ ကိုလိုချာမြစ် ကို အဲဒီနေရာက ဖြတ်ရတယ်၊ ဟိုအဝေးက လယ်ကွင်း ထဲမှာ ကောက်လှိုင်းစည်းတွေပုံထားတာ မြင်တယ်မဟုတ် လား၊ တောင်နှစ်လုံးကြားထဲမှာလေ၊ တံတားလေးတစ်ခုလဲ ရှိ တယ်၊ အဲဒါ ကျွန်တော်တို့ ခံစစ်ကြောင်းရဲ့ ဗဟိုပဲ။ ခံစစ်ကြောင်းရဲ့ လက်ယာ တောင်ပံကတော့”

၊ တပ်ဗိုလ်သည် လက်ယာဘက် စူးစူးရှိ တောင်နှစ် လုံးကြားကို ညွှန်ပြ လိုက်၏။

“အဲဒါက မော်စကာဗာ မြစ်ကမ်းနဖူးပဲ၊ လက် ယာတောင်ပံက အဲဒီကမ်းနဖူး မှာ ဖြန့်ထားတယ်၊ ခံတပ် သုံးခုလဲ တည်ထားတယ်၊ ခံတပ်တွေကတော့ စိတ်ချရ ပါတယ်၊ အခိုင်အခံ့ဆောက်ထားတာပဲ၊ လက်ဝဲတောင်ပံ ကတော့”

တပ်ဗိုလ်က ဆက်၍မပြောသေးဘဲ အတန်ကြာ ရပ်တန့်နေ၏။

“အင်း လက်ဝဲတောင်ပံ တပ်စွဲထားတဲ့နေရာက တော့ ပြောရမှာ ခပ်ခက် ခက်ပဲဗျ၊ မနေ့ကအထိတော့ ကျွန်တော်တို့ ခံစစ်ကြောင်းရဲ့ လက်ဝဲတောင်ပံက ရှီ ဗာဒီနို ခံတပ်မှာ တပ်စွဲထားတာပဲ၊ ဟိုသစ်ချပင်ကြီး ထိုးတည်း ကြီး ပေါက်နေတဲ့ တောင်ကုန်းကလေးလေ၊ ဒါပေမဲ့ ခုတော့ လက်ဝဲတောင်ပံကို ကျွန်တော်တို့ ရုပ် လာခဲ့ရပြီ၊ ခုတော့ လက်ဝဲတောင်ပံကို ဟိုမီးခိုးတလူလူနဲ့ ရွာကလေးမှာ ခဏဖြန့် ထားတယ်၊ မြင်ရတယ်မဟုတ်လား၊ ဆင်မြီနော့ ဆိုတဲ့ ရွာကလေးလေ”

တပ်မိုလ်သည် ရှေ့စကီတောင်ပူစာကလေးကို ညွှန်ပြနေသည်။

"ဒါပေမဲ့ ဒီနေရာမှာ တိုက်ပွဲ မဖြစ်ပါဘူး၊ သေ ချာပါတယ်၊ သူတို့တပ်တွေ အဲဒီဘက်ကို စုနေတာက ဥပါယ်တံမျဉ် သက်သက်ပဲ၊ ပုံပန်းကြည့်ရတာကတော့ ရန်သူတွေဟာ မော်စကာဗာမြစ်လက်ယာဘက်က ကွေ့ပြီး ဝင်တိုက်မယ့်ပုံပဲ၊ ဒါပေမဲ့ ရန်သူက ဘယ်ဘက်ကနေပဲ ဝင်တိုက်တိုက် မနက်ဖြန်မှာတော့ တိုက်ပွဲ အကြီးအကျယ် ဖြစ်ပြီး လူတွေတော့ အတုံးအရုံး သေကြမှာပဲဗျ"

ဤသို့ တပ်မိုလ်က ပီယာ့အား တိုက်ပွဲအလား အလာများကို ရှင်းလင်းပြော ပြနေသည့် အတောအတွင်း အသက်ခပ်ကြီးကြီးတပ်ကြပ်ကြီးတစ်ယောက် ရောက်လာ ကာ တပ်မိုလ်စကားဆုံးအောင် စောင့်နေရာမှ ကြာရှည် စောင့်ဆိုင်း ခြင်း မပြုနိုင်တော့ဘဲ ဝင်၍ပြောလိုက်သည်။

"မိုလ်ကြီး တပ်ကူတွေ ပို့ရလိမ့်ဦးမယ် မိုလ်ကြီး"

တပ်မိုလ်၏မျက်နှာသည် ရဲတက်သွား၏။ ၎င်း၏ စိတ်၌ နက်ဖြန်တိုက်ပွဲ တွင် အတုံးအရုံးကျဆုံးကြဦးမည် ဆိုသောစကားသည် သိသည့်တိုင်အောင် ဖွင့်၍မပြောအပ် သောစကားမျိုးဖြစ်ကြောင်းကို ယခုမှ သတိရသွားဟန် ရှိ၏။

"အင်း အမှတ်သုံးတပ်ခွဲကို ပို့လိုက်" တပ်မိုလ် သည် ခပ်သွက်သွက်ပင် ပြန်ပြောလိုက်သည်။

"ဒါ့ထက် နေစမ်းပါဦး၊ နောင်ကြီးက ဆရာဝန် လား"

"ဟင့်အင်း မဟုတ်ပါဘူး၊ ကျွန်တော်က အရပ် သားပါ" ပီယာက ပြန်ပြော လိုက်သည်။ ထို့နောက် ၎င်း တို့သည် အရေးပေါ်စစ်သည်စုများကြားမှ တိုးဝှေ့ကာ တောင်ပူစာကလေးပေါ်မှ ဆင်းလာခဲ့ကြသည်။

"ဒီခွေးသားတွေ ပိုနေတာပဲ" တပ်ဗိုလ်သည် အရေးပေါ် စစ်သည်စုများကြား မှ နှာခေါင်းကို ပိတ်၍ နောက်မှ ပြေးလိုက်လာရင်း ကျိန်ဆဲလိုက်သည်။

"ဟာ ဟော ပင့်လာပြီ၊ ပင့်လာပြီ၊ ဒီနားရောက် လာပြီ"

အရေးပေါ် စစ်သည်စုများထံမှ တစ်ယောက်တစ် ခွန်းပြောဆိုသံများ ထွက်ပေါ်လာ၏။ တပ်ဗိုလ်များ၊ တပ် သားများ၊ အရေးပေါ်စစ်သည်စုမှ တပ်သား များသည် လမ်းမဘက်သို့ ပြေးဆင်းလာကြသည်။

ဘိုရိုဒီနိုရွာဘက်ဆီမှ ဘုရားပွဲလှည့်လာခြင်းပေ တည်း။ ဘုရားပင့်လာသော လူတန်းကြီးသည် တောင်ပူစာ ကလေးဆီသို့ တရွေ့ရွေ့လာလျက် ရှိခြင်းကို မြင်ရ၏။ ခြေလျင်တပ်သားများသည် ရှေ့ဆုံးမှလိုက်ပါလာကြသည် ကို ဖုန်လုံးကြီးများကြားမှ မြင်ရ၏။ ခြေလျင်တပ်သား များသည် ခေါင်းတုံးရိတ်ထားကြ၏။ ၎င်းတို့နောက်မှ ဝတ်အသင်း လိုက်ပါလာလေသည်။

ခေါင်းတုံးရိတ်ထားသော တပ်သားများနှင့် အရေး ပေါ်စစ်သည်စုတပ်သား များသည် ပီယာအနီးမှ ဖြတ်ကျော် ကာ ဘုရားပွဲဆီသို့ ပြေးသွားကြလေသည်။

"မယ်တော်မာရီ ပင့်လာပြီ၊ မယ်တော်မာရီ ပင့် လာပြီ" တစ်ယောက်က အော်လိုက်သည်။

"ဘယ်ကလာ မယ်တော်မာရီ ရမှာလဲ၊ စမိုးလင့် မယ်တော်ပါ" ဟု တစ် ယောက်က ပြောလိုက်သည်။

ရွာထဲတွင် လည်းကောင်း၊ အမြောက်တပ်စုအနီး တွင် လည်းကောင်း၊ အလုပ်လုပ်နေကြသည့် အရေးပေါ် စစ်သည်စုတပ်သားများသည် ပေါက်ပြားများကို ပစ်ချကာ ဘုရားပွဲလှည့်လည်လာသည်ကို ပြေး၍ကြည့်ကြ၏။ ရှေ့ ဆုံးမှ လိုက်ပါလာသော ခြေလျင်တပ်ရင်းနောက်တွင်ကား သက်န်းရုံထားသော ဘုန်း

တော်ကြီးများ လိုက်ပါလာလေ သည်။ ၎င်းတို့အနက် ဒေါက်ခြာဆောင်းထားသော ဘုန်း တော်ကြီးတစ်ပါးကို ဝတ်ရွတ်သူများက ဝိုင်းရံလိုက်ပါလာ ကြ၏။ ၎င်းတို့ နောက်တွင် တပ်ဗိုလ်များနှင့် တပ်သား များသည် ကြီးမားသောဆင်းတုတော်ကြီး တစ်ဆူကို ပင့် လာကြ၏။ ထိုဆင်းတုကြီးကား စမိုးလင့်နယ်မှ ရုရှား တပ်များ ဆုတ်လာခဲ့စဉ် ပင့်လာခဲ့သော ဆင်းတုတော်ကြီး ဖြစ်ပေသည်။ ခေါင်းတုံးရိတ်ထား သော အရေးပေါ်စစ် သည်စုတပ်သားများသည် ဆင်းတုတော်ကြီး၏ဘေးမှ လည်းကောင်း၊ နောက်မှလည်းကောင်း မြေကြီးထိ ဦးညွတ် ပူဇော်၍ လိုက်ပါလာ ကြ၏။

တောင်ပူစာထိပ်သို့ ရောက်သောအခါ ဆင်းတု တော်ကို ပင့်လာသူများသည် ရပ်နားလိုက်ကြ၏။ ထို့ နောက် ဆင်းတုတော်ကို နောက်ထပ်လူလဲ၍ ထမ်းစေ သည်။ ဝတ်ရွတ်သူများသည်လည်း မီးငြိမ်းစပြုပြီဖြစ်သော အမွှေးတိုင်များကို ထပ်မံထွန်းညှိကာ ရွတ်ဖတ်သရဇ္ဈာယ် ခြင်း ပြုကြပြန်သည်။ ချစ်ချစ်တောက်ပူ သော နေရောင်  ခြည်များသည် တည့်တည့်ကြီး ဖြာကျလျက်ရှိ၏။ လန်း ဆတ် ညှင်းညံ့သော လေပြည်ကလေးသည် ခေါင်းတုံးရိတ် ထားသော ခေါင်းများမှ မွေးနု ကလေးများနှင့် ဆင်းတုတော် တွင် ဆင်ယင်ထားသည့် ဘယက်ဒွါဒရာများကို လှုပ်ယမ်း ကစားလျက်ရှိ၏။ ကောင်းကင် လေဟာပြင်ကျယ်အောက် သို့ ရောက်ရှိလာပြီဖြစ်သည့်အတွက် ရွတ်ဖတ်သရဇ္ဈာယ် သံများသည် စောစောကလောက် ကျယ်လောင်ခြင်း မရှိ တော့ချေ။ ခေါင်းတုံးရိတ်ထားသည့် တပ်ဗိုလ်များ၊ တပ်သားများ၊ အရေးပေါ်စစ်သည်စုတပ်သားများသည် ဆင်းတု တော်ကို ဝိုင်းအုံလျက် ရှိကြ၏။ ဘုန်းတော်ကြီးနှင့် ဝတ်ရွတ် သူများ၏နောက်နားရှိ သီးသန့်ပြင်ဆင်ထား သောနေရာ၌ မှူးမတ်များပူဇော်လျက် ရှိကြ၏။ စိန့်ဂျော့ကြက်ခြေခတ် သူရဲကောင်းတံဆိပ်ကြီးကို ရင်ဘတ်တွင် ချိတ်ထားသည့် ခေါင်းပြောင်ပြောင်နှင့် စစ်ဗိုလ်ချုပ်ကြီးတစ်ဦးကား အခြား သူများကဲ့သို့ လက်ယှက်ပူဇော်ခြင်းမပြုဘဲ

(ထိုစစ်ဗိုလ်ချုပ် ကြီးမှာ ဂျာမန်လူမျိုးတစ်ဦးဖြစ်ဟန်တူသည်။) ဘုန်းတော် ကြီး တစ်ပါးနောက်တွင် ရပ်ရင်း ရွတ်ဖတ်သရဇ္ဈာယ်ခြင်း ပြီးဆုံးအောင် သည်းခံ၍စောင့်ဆိုင်းလျက် ရှိ၏။ ထိုဂျာမန် စစ်ဗိုလ်ချုပ်ကြီးစိတ်၌ ရုရှားလူမျိုး တို့သည် ဇာတိသွေး ဇာတိမာန်ထက်သန်စေရန်အတွက် ဤသို့ ဆင်းတုတော် ရှေ့ တွင် ရွတ်ဖတ်သရဇ္ဈာယ်ခြင်း ဖြစ်ဟန်တူသည်ဟု တွေး လျက်ရှိလေသည်။ အခြား စစ်ဗိုလ်ချုပ်တစ်ဦးမှာ သတိ အနေအထားဖြင့် မတ်တတ်ရပ်နေရာမှ လက်နှစ်ဖက် ယှက် ၍ပူဇော်ရင်း ဘေးပတ်ဝန်းကျင်ကို လမ်းမျှော်ကြည့်ရှု လျက်ရှိ၏။ ပီယာ သည် အရေးပေါ်စစ်သည်စုများကြား တွင် ရပ်၍ကြည့်နေရာမှ မှူးမတ်အစုထဲတွင် သူ့မိတ်ဆွေ ရောင်းရင်းများကို ရိပ်ခနဲလှမ်းမြင်လိုက်သော်လည်း ၎င်း တို့ကို စိတ်မ ဝင်စားနိုင်ဘဲ တင်းမာသောမျက်နှာထားဖြင့် ဆင်းတုတော်ကို ပူဇော်နေကြသည့် တပ်ဗိုလ်များ၊ တပ်သား များ၊ အရေးပေါ်စစ်သည်စု တပ်သားများကိုသာ ကြည့် နေ မိသည်။ ဘုရားကို ရွတ်ဖတ်သူများမှာ ယနေ့အဖို့ အကြိမ်နှစ်ဆယ်မြောက် ရွတ်ဖတ်ရခြင်း ဖြစ်ပေသည်။ "အို မယ်တော်ဘုရား၊ မယ်တော် ဘုရား၏တပည့်တို့ အား ဘေးအန္တရာယ်ခပ်သိမ်းတို့မှ ကင်း ငြိမ်းအောင် မှိုင်းမတော် မူပါဘုရား" ဟု လေးတွဲ့စွာရွတ်ဆိုသည့်အခါ၌ နံနက်ခင်း က တွေ့ ရသည့်မျက်နှာများကဲ့သို့ ယခု မြင်တွေ့ရသော   တပ်ဗိုလ်တပ်သားများ၏ မျက်နှာများသည်လည်း လေး နက် တည်ငြိမ်သောအသွင် ဆောင်လာကြသည်ကို တွေ့ရ ၏။ ခေါင်းများကို ညွတ်၍ ဦးချခြင်းကို မြင်ရ၏။ သက်ပြင်းချသံများကိုလည်း ကြားရလေသည်။

ထိုအခိုက် ဆင်းတုတော်အနီးတွင် ဝိုင်းအုံနေသော လူအုပ်သည် ဘေးသို့ရွဲ့ သွားကာ ပီယာဘက်သို့ ပြုံ၍ တိုး လာ၏။ ဤသို့လမ်းဖယ်ပေးလိုက်သည်ကို ထောက်ခြင်း ဖြင့် အရေးကြီးသောပုဂ္ဂိုလ်တစ်စုံတစ်ယောက် ရောက်လာ ခြင်းကြောင့်လောဟု ပီယာတွေးမိသည်။

ပီယာထင်သည့်အတိုင်း ခဏကြာလျှင် စစ်သေနာ ပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် မြင်းစီး၍ ရောက်လာ လေသည်။ စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် သည် ခံစစ်ကြောင်းကို လှည့်လည်ကြည့်ရှုပြီးနောက် စခန်းရုံးစိုက်ရာဖြစ်သော တာတာရီနိုဗိုရွာသို့ အပြန်ဝင် ရောက်၍ ဘုရားဝတ်ပြုခြင်း ဖြစ်လေသည်။ ပီယာသည် အခြားသူများနှင့် မတူ ထူးခြားသော ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်၏သဏ္ဌာန်ကို ချက်ချင်း မှတ်မိလိုက်သည်။

စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ၎င်း၏ဝဝဖိုင့်ဖိုင့် ခန္ဓာကိုယ်ကြီးပေါ်တွင် ရှည်လျားသော ဝတ်ရုံအင်္ကျီတစ်ထည်ကို ဝတ်ထား၏။ ခေါင်းတွင် ဦးထုပ် ဆောင်းမထားသဖြင့် ဆံပင်ဖြူများသည် တစ်ခေါင်းလုံး ဖြူဖွေးလျက်ရှိ၏။ မျက်စိတစ်ဖက် လပ်လျက်ရှိသော မျက်နှာကြီးကလည်း နေရောင်အောက်တွင် နီရဲလျက်ရှိ၏။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် လူအုပ်ကြားထဲမှ တိုးဝှေ့ ကာ ခပ်ယိုင်ယိုင်လျှောက်လာခဲ့ပြီး ဘုန်းတော်ကြီးနောက် တွင် ရပ်လိုက်သည်။ ထို့နောက် လက်များကို ကျွမ်းကျင် စွာပူးယှက်၍ လက်အုပ်ချီကာ မြေပြင်ကို ထိလုမတတ် ညွတ်လိုက်ပြီး ဖြူဖွေးသောခေါင်းကို ညွတ်လိုက်၏။ စစ်သေနာပတိချုပ်ကူတူဇော့ဗ်၏နောက်တွင်လည်း ဗိုလ် ချုပ်ကြီးဘင်နစ်ဆန်နှင့် ကိုယ်ရံတော်များ ရပ်လျက် ရှိလေ သည်။ စစ်သေနာပတိချုပ်ကိုယ်တိုင် ရောက်ရှိလာသည့် အတွက် အထက်တန်းအရာရှိကြီးများမှာ လှုပ်လှုပ်ရွရွ ဖြစ်သွားကြသော်လည်း အရေးပေါ်စစ်သည်စု တပ်သား များနှင့် စစ်သားများမှာ စစ်သေနာပတိချုပ်ကို မကြည့်ဘဲ ဘုရားဝတ်ပြုမြဲ ပြုလျက် ရှိကြလေသည်။

ဘုရားဝတ်ပြုခြင်းပြီးဆုံးသော် စစ်သေနာပတိချုပ်  ကူတူဇော့ဗ်သည် ဆင်းတုတော်အနီးသို့ တိုးသွားကာ ဒူး ထောက်၍ မြေပြင်ရောက်အောင် ဦးညွတ်ဝတ်ပြုလိုက် သည်။ ထို့နောက် ပြန်ထရန် ကြိုးစားသော်လည်း အသက် ကြီးလာပြီဖြစ်သည့်အတွက်ကြောင့်လည်းကောင်း၊ လေးလံ သောခန္ဓာကိုယ်ကြီးကို မ

သယ်နိုင်သည့်အတွက်လည်း ကောင်း ရုတ်တရက်ပြန်မထနိုင်ဘဲ ဖြစ်နေသည်။ ဖြူဖွေး နေသောခေါင်းသည် ထရန် ကိုယ်ကို ကြိုးစား၍ ထူလိုက် တိုင်း တုန်လျက်ရှိသည်။ အတန်ကြာမှ ပြန်၍ထနိုင်ကာ ကလေးငယ်တစ်ဦးကဲ့သို့ နှုတ်ခမ်းကိုစုလျက် ဆင်းတုတော် ကို နမ်းရှုပ်လိုက်ပြီးနောက် မြေကြီးနှင့်ထိလုနီးပါး ဦးညွှတ်ပြန်သည်။ ဤတွင် အခြားသော စစ်ဗိုလ်ချုပ်များကလည်း စစ်သေနာပတိချုပ်ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်နည်းတူ လိုက် ၍ဝတ်ပြုကြသည်။ တပ်ဗိုလ်များကလည်း ထို့အတူ ဝတ်ပြု ကြပြန်သည်။ ထို့နောက် စစ်သားများ၊ အရေးပေါ်စစ်သည် စုတပ်သားများကလည်း တိုးဝှေ့ကာ ရုတ်ရုတ်သဲသဲ ဝတ်ပြု ကြပြန်လေသည်။

# အခန်း ၂၂

ပီယာသည် ရုတ်ရုတ်သဲသဲဖြစ်လျက်ရှိသော တပ်သားများ ကြားတွင် ညပ်ပါမသွားအောင် အနိုင်နိုင်ရပ်လျက် ဘေး ပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်မိသည်။

“ါ မြို့စားလေး၊ ဒီကို ဘယ့်နှယ်လုပ် ရောက် လာတာလဲ” အသံတစ်သံက လှမ်းမေးလိုက်၏။

ပီယာသည် အသံလာရာသို့ လှမ်းကြည့်လိုက် သည်။ ဘိုးရစ်စ်သည် ဒူးဆစ်တွင် ပေကျံနေသော ဖုန်များ ကိုခါ၍ ပြုံးလျက် လျှောက်လာသည်။ (ခပ်စောစောက ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ဟန်အတိုင်း ဝတ်ပြုရသော ကြောင့် ဒူးဆစ်များတွင် ဖုန်များ ပေနေဟန်တူသည်။) ဘိုးရစ်စ်သည် သပ်ရပ်သန့်ရှင်းစွာ ဝတ်ဆင်ထား၏။ ၎င်း၏ဟန်မှာ ရှေ့တန်းစစ်မျက်နှာရောက် တပ်ဗိုလ်တစ်ဦး နှင့် မတူ တူအောင် တမင်ဝတ်ဆင်ထားဟန်ရှိ၏။ ဗိုလ်ချုပ် ကြီးကူတူဇော့ဗ်ကဲ့သို့ ဝတ်ရုံရှည်ကြီးကို ခြုံကာ ၎င်း၏ ဟန်အတိုင်း ကြာပွတ်တစ်ချောင်းကို ပခုံးတွင် စလွယ် သိုင်းထားသည်။ ထိုအတွင်း ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ရွာထဲရှိ အိမ်တစ်အိမ်အနီး

သစ်ပင်ရိပ်တစ်ရိပ်တွင် ထိုင်ကာ အပန်း ဖြေလျက်ရှိ၏။ ကော့ဆက်မြင်းတပ်သားတစ်ယောက်က ထိုင်ခုံတစ်ခုံကို ပြေးယူခင်းပေးကာ အခြားတစ်ယောက်က ထိုင်ဖုံတွင် ကော်ဇောငယ်တစ်ချပ်ကို ခင်းပေး၏။ ၎င်း၏ အနီး၌ကား တောက်ပ ခမ်းနားသောဝတ်စုံများကို ဝတ်ဆင် ထားသည့် ဗိုလ်ချုပ်၊ ဗိုလ်မှူးများဝိုင်းအုံလျက် ရှိလေသည်။

တောင်ပူစာထိပ်မှ လူအုပ်ကြီးသည် ဆင်းတုတော် ကို အခြားတစ်နေရာသို့ ပင့်ဆောင်သွားကြပြီ ဖြစ်၏။ ပီယာနှင့် ဘိုးရစ်စ်ကား ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်နှင့် အလှမ်း သုံးဆယ်ကွာလောက်တွင် ရပ်စကားပြောနေကြခြင်း ဖြစ် လေသည်။

ပီယာက ခံစစ်ကြောင်းအနေအထားကိုကြည့်ရန် လာရောက်ခြင်း ဖြစ်ကြောင်း ဘိုးရစ်စ်အား ပြောဆိုလျက် ရှိ၏။

"မြို့စားလေးကို ကျွန်တော် ဒီလိုအကြံပေးချင် တယ်" ဘိုးရစ်စ်က ပြော၏။ "ကျွန်တော်တို့ တပ်စခန်း ကို လိုက်ခဲ့ပါလား၊ ကျွန်တော် ဖိတ်ပါတယ်၊ ကျွန်တော်တို့ ဗိုလ်ချုပ် မြို့စားကြီးဘင်နစ်ဆန်ရဲ့ နေရာကနေကြည့် ရင် စစ်မြေပြင်တစ်ခုလုံးကို ကောင်းကောင်းကြီး စီးမြင်နေ ရတာပဲ၊ သော် ကျွန်တော်လဲ ဗိုလ်ချုပ်ဘင်နစ်ဆန်ရဲ့ ကိုယ်ရံတော်အဖြစ် အမှုထမ်းနေတယ်လေ၊ ဗိုလ်ချုပ်ကို ကျွန်တော် ပြောပါ့မယ်၊ ဒီလိုမှ မဟုတ်ဘဲ ခံစစ်ကြောင်း တစ်လျှောက်ကို မြင်းနဲ့ လျှောက်ကြည့်ချင်သေးတယ်ဆို . ရင်လဲ ကျွန်တော်တို့နဲ့ပဲ လိုက်ခဲ့ပေါ့၊ ကျွန်တော်တို့ ခုပဲ လက်ဝဲတောင်ပံစစ်ကြောင်းကို သွားကြည့်ကြမလို့၊ လက်ဝဲ တောင်ပံအနေအထားကို စစ်ဆေးပြီးရင် ပြန်လာကြမယ်၊ ဒီနေ့ည ကျွန်တော့်စခန်းမှာပဲ တည်းပါ၊ မြို့စားလေး အတွက် ဖဲဝိုင်းတစ်ပိုင်းလောက်လဲ ကျွန်တော် စီစဉ်ပေးပါ့ မယ်၊ ဒီမီထရိ ဆာဂျီဗစ်ကို မြို့စားလေးလဲ သိတယ်မဟုတ် လား။ (ဤနေရာ၌ ဘိုးရစ်စ်သည်

မိုလ်ချုပ်ဘင်နစ်ဆန် နှင့် ရင်းနီးကြောင်း ပီယာသိစေလိုသဖြင့် ငယ်နာမည်ကို ခေါ် လိုက်၏။) အဲဒါ သူ့စခန်းရုံးပဲ”

ဘိုးရစ်စ်က ဂေါ်ကီရွာထဲရှိ အိမ်တစ်အိမ်ကို လက်ညှိုးထိုးပြသည်။

“နေဦးဗျ၊ ကျွန်တော်က လက်ယာတောင်ပံအနေ အထားကိုလဲ ကြည့်ချင် သေးတယ်၊ လက်ယာတောင်ပံ  စစ်ကြောင်းကတော့ တော်တော်ကြီး ခိုင်ခံ့တယ် ကြားရတာ ပဲ။ မော်စကာဗျာ မြစ်ကမ်းနဖူးကထွက်ပြီး ခံစစ်ကြောင်း ကို လျှောက် ကြည့်ရင် မကောင်းဘူးလားဗျ၊ ဘယ့်နှယ်လဲ”

“အို ဒါက နောက်တော့ ကြည့်နိုင်ပါတယ်ဗျ၊ ဒါပေမဲ့ အရေးအကြီးဆုံးက လက်ဝဲတောင်ပံစစ်ကြောင်းဗျ။ သူ့ကို အရင်ကြည့်ရအောင်”

“လုပ်ပါ လုပ်ပါ၊ ကြိုက်သလိုလုပ်ပါ၊ ဒါ့ထက် မင်းသားကလေးအင်ဒရေရဲ့ တပ်ရင်းက ဘယ်နားမှာလဲဗျ။ ဒီကနေ ကြည့်ရင် မြင်ရသလား”

“အင်ဒရေ့ တပ်ရင်းလား၊ လက်ဝဲတောင်ပံစစ် ကြောင်းကိုသွားရင် သူ့စခန်း ကို ဖြတ်သွားရမှာပဲ၊ သူနဲ့လဲ တွေ့ရပါစေ့မယ်လေ၊ စိတ်ချပါ”

“လက်ဝဲတောင်ပံစစ်ကြောင်း အခြေအနေကကော ဘယ်လိုနေသလဲ၊ ဟန် ရဲ့လား” ပီယာက မေးလိုက်သည်။

“အချင်းချင်း မကွယ်မထောင့် ပြောဆိုရမယ်ဆို ရင်တော့ အခြေအနေ သိပ် မကောင်းဘူးဗျ၊ ကျွန်တော်တို့ လက်ဝဲတောင်ပံ ဘယ်အခြေအနေရောက်နေသလဲ ဆိုတာ ကိုတော့ ကျွန်တော်လဲ မသိဘူး၊ ဘုရားသခင်မှပဲ သိတော့ မှာပဲ” ဘိုးရစ်စ် က လေသံကိုနှိမ့်၍ စစ်ရေးစစ်ရာတွင် ကျွမ်းကျင်သူတို့၏ဟန်အပြည့်ဖြင့် ပြော လိုက်၏။

“ကျွန်တော့် ဗိုလ်ချုပ်ဘင်နစ်ဆန်ရဲ့ စီမံကိန်းနဲ့ တော့ တခြားစီပဲ၊ ကျွန်တော့် ဗိုလ်ချုပ်က တောင်ပူစာ ကလေးပေါ်မှာ တပ်စွဲထားချင်တယ်၊ ဒါပေမဲ့” ဘိုးရစ်စ်က ပခုံးကို တွန့်လိုက်၏။

“ဒါပေမဲ့ စစ်သေနာပတိချုပ်က သဘောမတူဘူး ခင်ဗျ၊ အဘိုးကြီး ဘယ့်သူ့ စကား နားယောင်နေသလဲ မသိဘူး၊ ကြည့်လေ”

ထိုအခိုက် စစ်သေနာပတိချုပ်၏တပ်ရေး ဗိုလ်မှူး ကေရာဆော့ဗ် ၎င်းတို့ အနီးသို့ ရောက်လာသဖြင့် ဘိုးရစ်စ် က စကားဖြတ်လိုက်၏။ ဘိုးရစ်စ်သည် ခပ် ပြောင်ပြောင် ပြုံးကာ

”အလို တပ်ရေးဗိုလ်မှူးပါလား၊ ဟောဒီမှာဗျာမြို့ စားလေးက ကျွန်တော်တို့ ခံစစ်ကြောင်းအနေအထားကို ပြောပြပါဆိုလို့ တတ်သမျှမှတ်သမျှပြောပြနေရ တယ်၊ ကျွန်တော်တို့ စစ်သေနာပတိချုပ်ကတော့ တကယ်အံ့သြ လောက်တဲ့ ပုဂ္ဂိုလ်ကြီးပါပဲခင်ဗျ၊ ရန်သူရဲ့ ဥပါယ်တံမျဉ်  တွေ၊ အကြံအစည်တွေကို ကြိုတင် တွက်ချက်တဲ့နေရာမှာ ဖြင့် ရှာမှ ရှားပါပေတယ်၊ ဒိဗ္ဗစက္ခုရသလား အောက် မေ့ ရတယ်”

“ဘာလဲ၊ ရှောင်းရင်းက လက်ဝဲတောင်ပံ စစ် ကြောင်းဖြန့်တဲ့ကိစ္စကို ပြော တာလား”

“ဟုတ်တာပေါ့ ခင်ဗျာ၊ ခုတော့ စစ်သေနာပတိ ချုပ်ရဲ့ အစီအမံကြောင့် ကျွန်တော်တို့ လက်ဝဲတောင်ပံဟာ အတော်ကြီးကို ခိုင်ခံ့နေပြီခင်ဗျ၊ ရန်သူတွေ ဘယ်လိုပဲ ဖောက်ပေမယ့် ပေါက်ဖို့ မလွယ်တော့ဘူး”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စစ်ဦးစီး ဌာနချုပ်မှ လူပိုများကို လျှော့ပစ်ခဲ့သော်လည်း တိုးရစ်စ် သည် သူ့နည်းနှင့်သူ “အကြံအဖန်” လုပ်ကာ

စစ်ဌာနချုပ် တွင် ကျန်ရစ်ခဲ့၏။ ဘိုးရစ်စ်သည် ဗိုလ်ချုပ်ကြီး ဘင်နှစ် ဆန်ထံဝင်၍ "ကပ်" လိုက်၏။ ဤတွင် ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်ကလည်း (ဘိုးရစ်စ်အမှုထမ်း ဖူးသည့် အခြား သော ဗိုလ်ချုပ်ကြီးများနည်းတူ) ဘိုးရစ်စ်ကို "မျက်စိကျ" ကာ အဖိုးမဖြတ်နိုင်သော လူတော်ကလေးတစ်ဦးဖြစ် သည်ဟု ယူဆကာ ချီးမြှင့် မြှောက်စားခဲ့လေသည်။

ထိုစဉ်က ရုရှားစစ်ဌာနချုပ် အာဏာပိုင်များထဲ တွင် အုပ်စုနှစ်စုကွဲ လျက်ရှိ၏။ ၎င်းတို့ကား စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်၏အုပ်စုနှင့် စစ်ဦးစီးချုပ် ဗိုလ်ချုပ် ဘင်နစ်ဆန်၏ အုပ်စုတို့ ဖြစ်ကြ၏။ ဘိုးရစ်စ်ကား ဗိုလ်ချုပ် ဘင်နှစ် ဆန်၏အုပ်စုဝင် ဖြစ်လေသည်။ ဘိုးရစ်စ်စိတ်၌ စစ်သေနာပတိချုပ်သည် ဘာမျှ အသုံးမကျသော အဘိုးကြီး သာဖြစ်၍ တကယ်လက်တွေ့ စီမံဆောင်ရွက်နေရသူမှာ ဗိုလ်ချုပ်ဘင်နစ်ဆန်သာဖြစ်သည်ဟု ယူဆလျက် ရှိ၏။ သို့ရာတွင် ဘိုးရစ်စ်သည် စစ်သေနာပတိချုပ်နှင့် တွေ့သော အခါများ၌လည်း အများထက်ထူးကာ ပြားပြားဝပ် ရှိသေ ဟန်ပြလျက်ရှိလေသည်။ ဤသို့ ရှေ့တွင် တစ်မျိုး၊ ကွယ်ရာ တစ်မျိုးလုပ်ရာ၌ကား ဘိုးရစ်စ်ကိုမှီသူ ရှိလိမ့်မည် မဟုတ် ချေ။ ယခုကဲ့သို့ အနိုင်အရှုံးဆုံးဖြတ်မည့် တိုက်ပွဲကြီး နီး လာချိန်၌ ဘိုးရစ်စ် "အမြီးနန့်" လိုက်ပုံမှာ ဆိုဖွယ် မရှိ တော့ချေ။ ထိုတိုက်ပွဲ၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ် ပြုတ်ကျ၍ ဗိုလ်ချုပ်ဘင်နှစ်ဆန် တက်လာမည့်အလား အလာ ရှိနေပြီ မဟုတ်လော။ အကယ်၍ စစ်သေနာပတိ ချုပ်ကူတူဇော့ဗ်က တိုက်ပွဲကို နိုင်အောင် တိုက်နိုင်ခဲ့သည်  ထားဦး။ ဤသို့ နိုင်ခြင်းသည် နောက်ပိုင်းက ဗိုလ်ချုပ် ဘင်နစ်ဆန် အစီအမံကောင်း၍ နိုင်သည်ဟုပင် အားလုံး က ယူဆကာ ဗိုလ်ချုပ်ဘင်နစ်ဆန် ဩဇာတက်လာမည့် အလားအလာရှိနေသည် မဟုတ်လော။ တိုက်ပွဲနိုင်သည် ဖြစ်စေ၊ ရှုံးသည်ဖြစ်စေ မနက်ဖြန် တိုက်ပွဲ ပြီးသည်နှင့် တပ်ဗိုလ်တပ်သားများစွာ အဖိုးတန်သည့်ဆုလာဘ်၊ ဘွဲ့ထူး ဂုဏ်ထူးများရစရာ အကြောင်းရှိသည်မဟုတ်လော။ လူ

သစ်များကို ရာထူးတိုးပေးမည့်အလားအလာ ရှိနေသည် မဟုတ်လော။ ဤသို့ဖြင့် ထိုနေ့တစ်နေ့လုံး ဘိုးရစ်စ်သည် ထိုရာထူး ဂုဏ်ထူးများကို "သွားရည်ကျ" ကာ ဂနာမငြိမ် ဖြစ်လျက် ရှိလေသည်။

မကြာမီ ပီယာ၏အသိမိတ်ဆွေများ ရောက်လာ ကြပြန်ကာ မော်စကိုမြို့အကြောင်းကို မိုးသီးမိုးပေါက် ကြသည့်နှယ် တစ်ယောက်တစ်ခွန်း မေးကြပြန်၏။ ပီယာ မှာ မည်သူ့စကားကိုနားထောင်၍ မည်သည့်မေးခွန်းကို ဖြေရမှန်းပင် မသိတော့ချေ။ ၎င်းတို့၏ မျက်နှာပေါ်၌ လည်း စိတ်ထက်သန်ခြင်း၊ စိုးရိမ်ကြောင့်ကြဖြစ်ခြင်း စသည့် သဏ္ဌာန်များသည် ထင်ရှားစွာပေါ်လျက် ရှိကြ၏။

သို့ရာတွင် အချို့သူများ စိတ်အားထက်သန်လျက်ရှိခြင်း အကြောင်းရင်းမှာ မိမိတို့ ကိုယ်ရေးကိုယ်တာ အောင်မြင် ကျော်ကြားမှုကြောင့်ဖြစ်သည်ဟု ပီယာ ထင်မိ၏။ အချို့ သူများ၏ မျက်နှာများကား ကိုယ်ရေးကိုယ်တာကိစ္စများ ကို စိတ်ဝင်စားခြင်း မရှိဘဲ ကြုံတွေ့ရအံ့ဆဲဆဲဖြစ်သော သေရေးရှင်ရေးပြဿနာကြီးကို စိတ်ဝင်စားလျက်ရှိကြ ၏။ ပီယာသည် ထိုမျက်နှာများကို အကဲခတ်နေမိသည်။ စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ပီယာ၏ အရပ်မားမားကြီးနှင့် ၎င်းအနီးတွင် ဝိုင်းအုံနေကြသော လူသိုက်ကို လှမ်းမြင်လိုက်၏။

၊ "သွား၊ သူ့ကို ခေါ်ခဲ့စမ်း" ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်က တစ်ယောက်ကို ခိုင်းလိုက်၏။

တပ်ရေးဗိုလ်တစ်ယောက်သည် ပီယာအနီးသို့ ရောက်လာကာ စစ်သေနာပတိချုပ်က တွေ့ လိုကြောင်း ဖြင့် လာရောက်ပြောဆို၏။ ပီယာသည် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ထိုင်နေသော သစ်ပင်ရိပ်အောက် ခုံတန်းလျား ဆီသို့ လာခဲ့သည်။ သို့ရာတွင် ပီယာမရောက်မီ အရေးပေါ် စစ်သည်စုတပ်ဖွဲ့ဝင်တစ်ဦး

သည် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် အနားသို့ ရောက်နှင့်နေခဲ့လေပြီ။ ထိုသူကား ဒိုလို ကော့ဗ် ပေတည်း။

“ဒီသတ္တဝါ ဘယ့်နှယ် ဒီကို ရောက်နေတာလဲဗျ” ပီယာက မေးလိုက်၏။

“ဟာ ဒီလူတော့ ပြောမနေနဲ့ မြို့စားလေးရေ၊ နေရာတကာ ရောက်တဲ့လူပဲ၊ ခု ရာထူးချ ခံထားရပြန်ပြီ လေ” တပ်ရေးဗိုလ်က ဖြေလိုက်၏။ “ခု ရာထူးပြန်တက် အောင် အစွမ်းကုန် ကြိုးစားနေတော့တာပဲ၊ ဟိုတလောက တင် ရန်သူ့ကင်းစခန်း ထဲကို ညမှာ တိတ်တဆိတ် ဝင် သွားပြီး ရန်သူတွေကို သတ်ပစ်ခဲ့သေးတယ်၊ သတ္တိ ကတော့ အကောင်းခင်ဗျ”

ပီယာသည် ဦးထုပ်ကိုချွတ်၍ စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို ရိုသေစွာ ဦးညွတ် နှုတ်ဆက်လိုက်၏။ ထိုအချိန်၌ ဒိုလိုကော့ဗ်သည် စစ်သေနာပတိချုပ်ထံ တစ်စုံ တစ်ရာကို အစီရင်ခံလျက် ရှိသည်။

“ဒီကိစ္စနဲ့ ပတ်သက်လို့ ဗိုလ်ချုပ်ကို အစီရင်ခံနေ လို့ရှိရင် ကျွန်တော့်ကို ခွင့် မပြုမှာစိုးတာနဲ့ ကျွန်တော်လဲ နောက်မှ ပေးတဲ့အပြစ်ကို ခံမယ်ဆိုပြီး”

“အိမ်း အိမ်”

“နောက်မှ ပေးတဲ့အပြစ်ကို ခံမယ်ဆိုပြီး ရန်သူ့ စခန်းထဲ တိတ်တဆိတ်ဝင် ကြည့်ခဲ့တာပါ ဗိုလ်ချုပ်၊ တကယ်လို့ ကျွန်တော်ပြောတဲ့အတိုင်း မှန်ရင် အဖနိုင်ငံ အတွက် ကျွန်တော်အမှုတော်ထမ်းပါရစေ ဗိုလ်ချုပ်၊ အသက်အသေခံပြီး အမှု တော်ထမ်းဆိုရင်လဲ ထမ်းပါ့မယ် ဗိုလ်ချုပ်”

“အိမ်း အိမ်”

“ဒီကိစ္စကို ဆောင်ရွက်ဖို့အတွက် အသေခံလုပ် ရမယ့်လူမျိုးကို လိုရင် ကျွန် တော့်ကို ပထမဆုံး စဉ်းစား စေလိုပါတယ် ဗိုလ်ချုပ်၊ ကျွန်တော်ဟာ ဗိုလ်ချုပ်

အတွက် အသုံးကျလိမ့်မယ် ထင်ပါတယ် ဗိုလ်ချုပ်”

“အိမ်း အိမ်း”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် တအိမ်းအိမ်း လိုက်ရာမှ ပီယာကို မျက်လုံးမှေး၍ လှမ်းကြည့်လျက်ရှိ၏။

ထိုစဉ် ဘိုးရစ်စ်သည် ရွှေနန်းတော်အမှုထမ်းတို့၏ ယဉ်ကျေးသိမ်မွေ့သော ဟန်ဖြင့် ပီယာ၏အနီးတွင် ဝင်ရပ် လိုက်ပြီးနောက် လက်စမသိမ်းသေးသော စကားတစ်ခွန်း ကို ဆက်ပြောသည့်လေသမျိုးဖြင့် ပီယာကို ဣန္ဒြေမပျက် လှမ်း ပြောလိုက်သည်။

“ဟုတ်တယ် မြို့စားလေးရ၊ အရေးပေါ် စစ်သည်စု တပ်ဖွဲ့ဝင်တွေက စစ်ဝတ်စုံ မဝတ်ဘဲ သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းကြပုံကဖြင့် တယ်ပြီးအားရ စရာကောင်းပေ တာပဲ၊ တကယ့်သူရဲကောင်း စိတ်ဓာတ်ပဲ ခင်ဗျ၊ မဟုတ် ဘူးလား ခင်ဗျာ မြို့စားလေး”

တိုးရစ်စ်သည် စစ်သေနာပတိချုပ်ကြားအောင် စကားမရှိ စကားရှာ၍ ပြော လိုက်ခြင်းဖြစ်၏။ ဤစကား ကို စစ်သေနာပတိချုပ် သဘောကျမည်ဟု ဘိုးရစ်စ် သိပြီး ဖြစ်သည်။

“ဘာကွယ့် အရေးပေါ်စစ်သည်စုတပ်ဖွဲ့ဝင်တွေက ဘာဖြစ်တယ်” စစ်သေနာပတိချုပ်က ဘိုးရစ်စ်ကို လှမ်း မေးလိုက်သည်။

“မှန်ပါ၊ မနက်ဖြန် တိုက်ပွဲမှာ သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းကြဖို့ စိတ် အားထက်သန်နေကြတယ်လို့ ပြောတာပါ ဗိုလ်ချုပ်”

“အိမ်း အိမ်း၊ ဟုတ်ပေတယ်၊ ဟုတ်ပေတယ်၊ အရေးပေါ်စစ်သည်စုဝင်တွေ ကတော့ အားကိုးလောက်ပါ ပေတယ်”

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် မျက်လုံးများကို မှိတ်၍ ခေါင်းညိတ်လိုက်၏။

"ပြိုင်ဘက်ကင်းလောက်တဲ့ စစ်သည်စုတွေ ဖြစ် ပါပေတယ်"

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် သက်ပြင်းချ၍ ထို စကားများကို ရွတ်ဆိုနေပြန်သည်။

"ဆိုစမ်း၊ တူတော်မောင် မြို့စားကလေးကကော စစ်မြေပြင်ထွက်ပြီး ယမ်းနံ့လာရှူတာလား" ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ပီယာကို လှမ်းမေးလိုက်၏။ "အေးကွယ့် ယမ်းနံ့များကလဲ တကယ်ရှူကြည့်တော့ ရှူလို့ အကောင်း သား မွှေးတေးတေးနဲ့၊ ဦးရီးတော်လဲ တူတော်မောင့် ကြင်ရာတော်ကို မြတ်နိုးသူတွေထဲမှာ တစ်ယောက်ပေါ့ဗျာ၊ ဘယ့်နှယ်လဲ ကြင်ရာတော်ကော ကျန်းမာတယ် မဟုတ် လား၊ တူတော်မောင် တည်းခိုချင်သပဆိုရင် ဦးရီးတော်ရဲ့ စခန်းရုံးမှာလဲ တည်းနိုင်ခိုနိုင်တယ်နော် ဟုတ်စ"

"အသက်ကြီးသူတို့ ဖြစ်လေ့ရှိသည့်အတိုင်း ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်သည် ရှေ့ဆက်ပြောရမည့်စကားကို မေ့ သွားသည့်အလား အဝေးသို့ကြည့်လျက်ရှိ၏။ အတန် ကြာမှ မိမိပြောလိုသည့်စကားကို အမှတ်ရလာဟန်ဖြင့် တပ်ရေးဗိုလ်မှူး ကေရာဆော့ဗ်၏ အစ်ကို အင်ဒရူးကေရာ ဆော့ဗ်ကို လက်ယပ်ခေါ်လိုက်သည်။

"ဟော့ နေစမ်းပါဦးကွယ့်၊ ဗိုလ်ချုပ် ဂျီရာကော့ အကြောင်းစပ်ထားတဲ့ မာရင်ရဲ့ မော်ကွန်းထဲက စာပိုဒ် တွေကို ရသေးရဲ့ လား၊ မှတ်မိရင် ရွတ်စမ်း ရွတ်စမ်း"

ကေရာဆော့ဗ်က မော်ကွန်းမှ စာပိုဒ်အချို့ကို ရွတ် ပြ၏။ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ကာရန်နှင့် အညီ ခေါင်းကို တဆတ်ဆတ်ညိတ်လျက် ရှိလေသည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်အနီးမှ ပီယာပြန် ထွက်လာသောအခါတွင် ဒိုလိုကော့ဗ်သည် ပီယာအနီးသို့ လျှောက်လာကာ ပီယာ၏လက်ကို ဆုပ်ကိုင်လိုက်သည်။

"အေးဗျာ မြို့စားလေးကို ဒီနေရာမှာ လာတွေ့ရ တာ ဝမ်းသာတယ်" ဒိုလိုကော့ဗ်က အနီးတွင် သူစိမ်း တစ်ရံဆံများရှိခြင်းကို ဂရုမထားဟန် ပြတ်သားလေးနက် သောအသံဖြင့် ခပ်ကျယ်ကျယ်ပြောလိုက်၏။ "မနက်ဖြန် တိုက်ပွဲမှာ ကျုပ်တို့နှစ်ယောက်အနက် တစ်ယောက်ယောက် တော့ ကျမှာပဲဗျ၊ ဘယ်သူသေပြီး ဘယ်သူကျန်ရစ်ခဲ့မယ် ဆိုတာတော့ ဘုရားသခင်မှ သိမှာပဲ၊ ခုလို အပြီးသတ် ခွဲကြရခါနီးမှာ ကျုပ်တို့နှစ်ယောက် အထင်လွဲခဲ့ကြတဲ့ကိစ္စ နဲ့ ပတ်သက်လို့ ခင်ဗျားကို တောင်းပန်ခွင့်ရတဲ့အတွက် ဝမ်းသာတယ်ဗျာ၊ ကျုပ်ကိုလဲ အနာဂတ် ထားမနေပါ နဲ့တော့၊ ကျုပ်ကို ခွင့်လွှတ်ပါလို့ တောင်းပန်ပါတယ်"

ပီယာသည် ဒိုလိုကော့ဗ်ကို ပြုံး၍ ကြည့်နေမိ၏။ မည်သို့ ပြန်ပြောရမည် မသိချေ။ ဒိုလိုကော့ဗ်သည် မျက် ရည်တွေစီးကျလာကာ ပီယာကို ဖက်ပြီးနောက် နမ်းရှုပ် လိုက်၏။

ထိုအခိုက် ဘိုးရစ်စ်က ၎င်း၏ ဗိုလ်ချုပ်ကြီး တင် နစ်ဆန်သို့ တစ်စုံတစ်ရာ ပြောလိုက်သည်တွင် ဗိုလ်ချုပ် ဘင်နစ်ဆန်သည် ပီယာဘက်သို့လှည့်၍ မိမိနှင့်အတူ ခံစစ်ကြောင်းတစ်လျှောက် လိုက်ကြည့်ရန် ဖိတ်ခေါ်မှု ပြု လေသည်။

"တူတော်မောင် စိတ်ဝင်စားလိမ့်မယ် ထင်ပါရဲ့"

"ဟုတ်ကဲ့၊ စိတ်ဝင်စားပါတယ် ဗိုလ်ချုပ်" ပီယာ က ပြော၏။

နာရီဝက်ခန့်အကြာ၌ စစ်သေနာပတိချုပ် ဗိုလ်ချုပ် " ကြီးကူတူဇော့ဗ်သည် ၎င်း၏ဌာနချုပ် စခန်းရုံးရှိရာ တာ တာရီဗိုဒိုရွာသို့ ပြန်သွားလေသည်။ ဗိုလ်ချုပ်ကြီး

တင် နစ်ဆန်နှင့် ပီယာအပါအဝင် ၎င်း၏လူသိုက်ကား မြင်း ကိုယ်စီဖြင့် ခံစစ် ကြောင်းတစ်လျှောက်သို့ ထွက်လာခဲ့ ကြလေသတည်း။

# အခန်း ၂၃

ဂေါ်ကီရွာကလေးသို့ ရောက်သော် ဗိုလ်ချုပ်ကြီး ဘင်နစ် ဆန်နှင့်အဖွဲ့သည် ပေတစ်ရာလမ်းအတိုင်း တံတားကလေး ( တစ်ခုဆီသို့ ဆင်းလာခဲ့ကြ၏။ ထို တံတားကလေးမှာ တောင်ကုန်းပေါ်မှ ပီယာကြည့်ရှုခဲ့စဉ်က မြင်ခဲ့ရသော တံတား ကလေးဖြစ်၏။ ထိုတံတားကလေးမှာ ရုရှားခံစစ် ကြောင်း၏ဗဟိုချက်မ ဖြစ်သည် ဟု တပ်ဗိုလ်တစ်ဦးက ပီယာအား ထိုစဉ်က ပြောခဲ့သေး၏။ မြစ်ကမ်းနဖူး တစ် လျှောက်၌ကား ရိုးပြတ်နံ့သင်းလျက်ရှိသော ရိတ်ပြီးစ ကောက်လှိုင်းစည်းများကို တွေ့ရ၏။ ပီယာတို့လူသိုက် သည် တံတားကိုဖြတ်၍ တိုရိုဒီနိုရွာထဲသို့ ဝင်ခဲ့ကြပြီး နောက် လက်ဝဲဘက်သို့ ချိုးလာခဲ့ကြပြန်သည်။ လမ်း တစ်လျှောက်၌ များပြားလှ သော စစ်တပ်များအမြောက် အပြားကို တွေ့ရ၏။ ၎င်းတို့သည် ထိုစစ်တပ်များကို ကျော်ဖြတ်လာခဲ့ကြပြီးနောက် စဉ်းငယ်မြင့်သောတောင် ကမူကလေးတစ်ခုပေါ်သို့ ရောက်လာခဲ့ကြသည်။ ထိုကမူ ပေါ်၌ အရေးပေါ်စစ်သည်စုတပ်ဖွဲ့ဝင်များသည် ကတုတ် ကျင်းများတူးလျက်ရှိကြ၏။ ထိုတောင်ကမူကလေး ထိုစဉ်က အမည်မရှိ သေးသော်လည်း နောင်သောအခါတွင် "ရေစကီခံတပ်" ဟူ၍လည်းကောင်း၊ "မြ တပူကုန်း" ဟူ၍ လည်းကောင်း ထင်ရှားလာသည့် တောင်ကမူကလေးပေ တည်း။ ပီယာကား ထိုတောင်ကမူကလေးကို စိတ်မဝင် စားလှချေ။ ထိုတောင်ကမူကလေး သည် ဘိုရိုဒီနိုစစ်မြေ ပြင်တစ်ခုလုံး၌ မိမိအဖို့ မေ့နိုင်ဖွယ်မရှိတော့သော နေရာ ကလေး ဖြစ်လာလိမ့်မည်ဟုလည်း ပီယာ မသိသေးချေ။

ထို့နောက် ၎င်းတို့သည် ကွင်းပြင်တစ်ခုကို ဖြတ် ၍ ဆင်မြီးနော့ရွာဘက်သို့ စီးလာခဲ့ကြ၏။ ဆင်မြီးနော့ရွာ  တစ်ဝိုက်၌ကား တပ်သားများ ကတုတ်ကျင်း လုပ်ရန်အတွက် ရွာထဲမှ စပါးစည့်များ၊ အိမ်များကို ဖျက်၍ သစ်တိုသစ်စများကို သယ်လျက်ရှိကြ၏။ ထို့နောက် လမ်း ဆင်းကလေးတစ်ခုအတိုင်း ဆင်းလာခဲ့ကြပြီး ကုန်းအတက် ကလေးတစ်ခုကို တက်ခဲ့ကြပြန်သည်။ တစ်ဖန် လေပွေ မွေ့ သကဲ့သို့ ကောက်ပင်တို့ ကြေမွပျက်စီးလျက်ရှိသော ဂျုံခင်းတစ်ခုကို ဖြတ်စီးခဲ့ကြပြန်သည်။ ထွန်ရေးကြောင်း များပေါ်၌ကား အမြောက်များ ဆွဲသွားသဖြင့် စွပ်ကြောင်း ရာကြီးများ ထင်ကျန်ရစ်ခဲ့ကြ၏။ ပီယာတို့တစ်သိုက် လည်း စွပ်ကြောင်းရာကြီးများအတိုင်း လိုက်လာခဲ့ကြရာ နောက်ဆုံး၌ တူးဖော်ဆဲ ရင်ကာကတုတ်များဆီသို့ ရောက်လာကြလေသည်။

ဗိုလ်ချုပ် ဘင်နစ်ဆန်သည် ရင်ကာကတုတ်ကျင်း များအနီး၌ ရပ်လိုက်ပြီး နောက် ယမန်နေ့က ရန်သူ့လက် သို့ ကျသွားသော မျက်နှာချင်းဆိုင်ရှိ ရှီဗာဒီနို ခံတပ်ကို လှမ်းမျှော်ကြည့်ရှုလျက် ရှိလေသည်။ ရှီဗာဒီနိုခံတပ်ထဲ၌ တလှုပ်လှုပ် တရွရွရှိနေကြသော ရန်သူမြင်းတပ်သားများ ကို မြင်ရ၏။ ထိုခံတပ်ထဲ၌ နပိုလီယန်နှင့် ပြင်သစ်ဗိုလ် ချုပ်မှူးရတ်တို့ရှိသည်ဟု တပ်ဗိုလ်များက ပြောပြကြ၏။ သို့ဖြင့် ၎င်းတို့သည် ရန်သူများကို လှမ်းကြည့်လျက် ရှိ ကြလေသည်။ ပီယာသည် ခပ်ရေးရေးမျှသာ မြင်ရသော ရန်သူတပ်သားတို့ကို လှမ်းကြည့်လျက်ရှိရာက ၎င်းတို့အနက် မည်သူသည် နပိုလီယန်ဖြစ်လေမည်နည်းဟု မှန်းဆ ကြည့်နေမိသည်။ ခဏကြာသော် ရန်သူများသည် မြင်း ကိုယ်စီဖြင့် ရှီဗာဒီနိုတောင်ကုန်းနောက်သို့ ပျောက်ကွယ် သွားကြ၏။

ဗိုလ်ချုပ်ဘင်နစ်ဆန်သည် အနီးသို့ရောက်လာ သော ဗိုလ်ချုပ်တစ်ဦးအား ရှုရှားခံစစ်ကြောင်းအနေအထား ကို ရှင်းပြလျက်ရှိသဖြင့် ပီယာလည်း ဝင်ရောက်နားထောင် ခြင်း ပြု၏။ ပီယာသည် နက်ဖြန် တိုက်ပွဲနှင့် စပ်လျဉ်း၍ အရေးကြီး

သောအချက်များကို အစွမ်းကုန် ကြိုးစားနား ထောင်၏။ သို့သော်လည်း ၎င်း၏စိတ်တန်ခိုးစွမ်းအား တို့သည် စစ်ရေးစစ်ရာကိစ္စများနှင့် အပ်စပ်ခြင်းမရှိကြောင်း တွေ့ ရသည့်အခါ၌ ပီယာသည် စိတ်အပျက်ကြီး ပျက် လျက် ရှိလေသည်။ ပီယာသည် ၎င်းတို့စကားများကို တစ်လုံးမျှ နားမလည်ချေ။ ဗိုလ်ချုပ် ဘင်နစ်ဆန်သည် စကားပြောခြင်းကို ရပ်၍ ပီယာကို လှမ်းကြည့်လိုက်၏။ ပီယာ နားထောင်နေခြင်းကို သတိပြုမိသည့်အခါ၌

"မြို့စားကလေးကတော့ စိတ်ဝင်စားမယ် မဟုတ် ပေဘူးဗျ" ဟုဆို၏။

“အို မဟုတ်ပါဘူးခင်ဗျာ၊ သိပ်စိတ်ဝင်စားစရာ ကောင်းပါတယ်” ပီယာက အလိုက်အထိုက် ပြန်ပြော လိုက်သည်။

ပီယာတို့ လူသိုက်သည် ရင်ကာကတုတ်များအနီး တွင် အတန်ကြာရပ်၍ စကားပြောဆိုနေကြပြီးနောက် လက်ဝဲဘက်အစွန်သို့ ဆက်စီးလာခဲ့ကြပြန်သည်။ ထိုနေရာ တစ်ဝိုက်၌ သစ်ပင်ပေါက်ကလေးများ ထူထပ်စွာပေါက် လျက်ရှိသောတောအုပ်ကလေးတစ်ခုရှိလျက် လမ်းသည် ထိုတောအုပ်ကလေးထဲမှ ကွေ့ကောက်ဖြတ်သန်းသွား၏။ တောအုပ်အလယ်လောက်သို့ ရောက်သောအခါ၌ ခြေ ထောက်အဖြူနှင့် တောယုန်နက်ကျားကလေးတစ်ကောင် ကို လမ်းပေါ်တွင် တွေ့ရ၏။ တောယုန်ကလေးမှာ စကား ပြောသံနှင့် မြင်းခွာသံများကြောင့် လန့်ဖျပ်ကာ လမ်း အတိုင်း ရှေ့မှထွက်ပြေးသဖြင့် တောအုပ်ကလေးတစ်ဝိုက် ဆီ၌ ရယ်သံ ညာသံများ သောသောညံလျက်ရှိ၏။ တော ယုန်ကလေးသည် ဤသို့ဖြင့် လမ်းအတိုင်း ရှေ့မှ စွပ်ပြေး လျက်ရှိရာ အတော်ကြာတော့မှ လမ်းဘေးသို့ ခုန်ဆင်းကာ ချုံထဲသို့ဝင်ရောက် ပျောက်ကွယ်သွားလေသည်။ ဤသို့ဖြင့် တောအုပ်ကလေးတွင် တစ်မိုင်ခန့် ဆက်စီးလာခဲ့ပြီးသည့် နောက် လွင်ပြင်သို့ ပြန်ထွက်လာခဲ့ကြသည်တွင် ရှေ့၌ ခင်တန်းပို့ချို့ကလေးတစ်ခုကို ဘွားခနဲ မြင်လိုက်

ကြရ ၏။ ထိုခင်တန်းကလေးကား လက်ဝဲဘက်တောင်ပံကို ကာကွယ်ရန် ဗိုလ်ချုပ် တူချ်ကော့၏တပ်များ တပ်စွဲထား သည့် နေရာပေတည်း။

ထိုနေရာမှာ (ကိုလိုချာမြစ်ရိုးကို မျက်နှာချင်းဆိုင် ကာ ခေးလွယ်ခုတ်ပြေး နေသည့်) ရုရှားခံစစ်ကြောင်း၏ လက်ဝဲတောင်ပံစွန်းဖြစ်၏။ ဗိုလ်ချုပ်ကြီးဘင်နစ်ဆန်သည် ထိုနေရာ၌ အတန်ကြာရပ်နားကာ စိတ်အားထက်သန်စွာ ပြောဆိုလျက်ရှိ၏။ ဤအခြင်းအရာကို ထောက်သော် လွန် စွာအရေးကြီးသည့် စစ်ရေးစစ်ရာများနှင့်ပတ်သက်၍ ညွှန် ကြားချက်များ ပေးနေခြင်းဖြစ်ဟန်တူသည်ဟု ပီယာယူဆ လိုက်၏။ ဗိုလ်ချုပ် တူချ်ကော့၏တပ်များ နေရာယူထား သည့် ခင်တန်းရှေ့၌ ကုန်းမြင့်တစ်ခု ရှိ၏။ ဗိုလ်ချုပ်ကြီး တင်နစ်ဆန်သည် ထိုအမှားကို ပြင်းထန်စွာအပြစ်ဆိုလျက် ရှိ၏။ ပတ်ဝန်းကျင်တစ်ခုလုံးကို အပေါ်စီးရထားသည့် ကုန်းမြင့်တစ်ခုကို သိမ်းပိုက်ခြင်းမပြုဘဲ ကုန်းမြင့်အောက် ဆင်း၍ နေရာယူ တပ်စွဲထားသူများမှာ အရူးများသာ ဖြစ်ကြောင်းဖြင့်လည်း ပြောဆိုလျက်ရှိလေသည်။ ဤတွင် အချို့သောဗိုလ်ချုပ်များကလည်း ဗိုလ်ချုပ်ဘင်နစ်ဆန်ကို ထောက်ခံပြောဆိုကြ၏။ ဗိုလ်ချုပ်တစ်ယောက်ကမူ မိမိ တို့အား ဤကုန်းမြင့်အောက်ဆင်း၍ တပ်စွဲစေခြင်းမှာ အသေခံခိုင်းခြင်းပင် ဖြစ်ကြောင်းဖြင့် စစ်သားပီပီ ဒေါသ တကြီး ပြောဆိုခြင်း ပြုလေသည်။ ဗိုလ်ချုပ်ကြီးဘင်နစ်ဆန် သည် မိမိ၏အခွင့်အာဏာဖြင့် ထိုတပ်များကို ကုန်းမြင့်ပေါ် သို့ ပြောင်းရွှေ့ တပ်စွဲရန် အမိန့်ပေးလိုက်၏။

ရုရှားစစ်ကြောင်း လက်ဝဲတောင်ပံရှိ စစ်အင်္ဂါစဉ် အခင်းအကျင်းကို မြင်လိုက်ရသည့်အခါ၌ကား မိမိ၌ စစ်ရေးစစ်ရာများကို နားလည်နိုင်သော အစွမ်းသတ္တိခေါင်း ပါးခြင်းကို ပီယာ ပို၍သဘောပေါက်လာခဲ့လေပြီ။ ရုရှား တပ်များအား ကုန်းမြင့်အောက်ခြေတွင် တပ်စွဲထားစေခြင်း နှင့်ပတ်သက်၍ ဗိုလ်ချုပ်ကြီးဘင်နစ်ဆန်နှင့် အခြားအခြား သောဗိုလ်ချုပ်များ၏ ဝေဖန်ချက်ကို ကြားရသောအခါတွင် ပီယာသည် သဘောပေါက်သလိုလို ဖြစ်လာကာ ၎င်းတို့ ကဲ့သို့ပင်

ယူဆမိသည်။ ဤမှုရှင်းနေပါလျက် သက်ဆိုင် ရာတာဝန်ခံတပ်ဗိုလ်သည် ဤသို့ သောကြီးကျယ်သည့် အမှားမျိုး မည်သည့်အတွက် ပြုလုပ်သနည်းဟူ၍လည်း စဉ်းစားမရအောင် ဖြစ်မိသည်။

အမှန်အားဖြင့် ဤတပ်များသည် ကုန်းမြင့်နောက် ကွယ်တွင် တပ်စွဲထား ခြင်းမှာ (ဗိုလ်ချုပ်ဘင်နစ်ဆန် ယူဆ သကဲ့သို့) ရုရှားခံစစ်ကြောင်းကို ကာကွယ်ရန် အတွက် မဟုတ်ချေ။ အလောတကြီးဖြင့် တက်လာသောရန်သူကို ချုံခိုတိုက်ပွဲဆင် သည့်နည်းတူ လျှပ်တပြက်တိုက်ပွဲဆင်ရန် ဖြစ် ပေသည်။ ထို့ကြောင့် ဤတပ်များ ကို ကုန်းမြင့်နောက် ကွယ်တွင် တပ်ဖျောက်ထားခြင်း ဖြစ်၏။ ဤအချက်ကို ပီယာ မသိချေ။ ဗိုလ်ချုပ်ဘင်နစ်ဆန်လည်း မသိချေ။ ဤအချက်ကို မသိသော ဗိုလ်ချုပ် ဘင်နစ်ဆန်သည် စစ် သေနာပတိချုပ်၏အမိန့်ကို တောင်းခံခြင်း မပြုတော့ဘဲ ၎င်း၏ သဘောဖြင့် တပ်များကို ကုန်းမြင့်ပေါ်သို့ ပြောင်း ရွှေ့တပ်စွဲထားရန် အမိန့် ပေးလိုက်ခြင်း ဖြစ်ပေသတည်း။

# အခန်း ၂၄

ဩဂုတ်- ၂၅ ရက်နေ့၏သာယာလှပသော ထိုညနေခင်း၌ မင်းသားကလေး အင်ဒရေသည် ၎င်း၏တပ်ရင်းစခန်းချ ထားရာ တပ်စခန်းအစွန်ဖြစ်သော ညာဇကို ဗိုရွာထဲရှိ တင်း ကုပ်ပျက်ကလေးတစ်လုံးထဲ၌ တံတောင်ဆစ်ကို အားပြု လဲလျောင်းလျက် ရှိ၏။ ကျိုးပဲ့ပျက်စီးနေသော တဲအိုနံရံ ကြားမှနေ၍ သစ်သားခြံ စောင်ရန်းကို လည်းကောင်း၊ နှစ်ပေါင်းသုံးကျိပ်မျှကြာ၍ သက်ရင့် ပင်စောက်ကြီး များ ဖြစ်နေကြသောသစ်ဖြူပင်များကို လည်းကောင်း၊ အောက် သို့ငိုက်ယွန်းလျက် ရှိသောသစ်ကိုင်းများကို လည်းကောင်း၊ မြင်းစားဂျုံခင်းတစ်ခင်းကို လည်းကောင်း၊

တပ်သားများ စခန်းမီးပုံများ ဖိုထားကြသောကြောင့် အနီးတစ်ဝိုက်တွင် မီးခိုးလုံးတို့ ရစ်ဖုံးလျက်ရှိသော တောချုံကလေးများကို လည်းကောင်း မြင်ရ၏။

ယခုအချိန်၌ မိမိ၏ဘဝသည် ကျဉ်းမြောင်းကြပ် တည်းသောဘဝ၊ လွတ်လပ်ခြင်းကင်းသော ဘဝ၊ အသုံး မကျသောဘဝ၊ အချည်းနှီး အကျိုးမဲ့သာ ဖြစ်သောဘဝဟု မင်းသားကလေးအင်ဒရေ ယူဆခဲ့လေသည်။ မင်းသား ကလေး အင်ဒရေသည် တိုက်ပွဲအကြိုနေ့ဖြစ်သော ယနေ့၌ ဂနာမငြိမ်ဖြစ်ကာ စိတ်တို လျက် ရှိလေသည်။ ဤအဖြစ် မျိုးကို လွန်ခဲ့သည့်ခုနစ်နှစ် ဩစတားလစ်တိုက်ပွဲ မဖြစ်မီ တစ်ရက်ကလည်း ကြုံတွေ့ခဲ့ဖူးလေပြီ။

မင်းသားကလေးအင်ဒရေသည် နက်ဖြန်တိုက်ပွဲ နှင့် စပ်လျဉ်း၍ အထက်မှ အမိန့်များရရှိပြီးဖြစ်၍ ထိုအမိန့် များကို သက်ဆိုင်ရာတပ်မှူး တပ်ဗိုလ်အသီးသီးတို့ထံသို့ လည်း ပေးပို့လိုက်ပြီး ဖြစ်သဖြင့် နောက်ထပ်ဘာမျှ လုပ် စရာ မရှိတော့ချေ။ သို့ရာတွင် အရှင်းလင်းဆုံး၊ အကြည် လင်ဆုံး (ထို့ကြောင့် ကြောက်စရာ အကောင်းဆုံးလည်း ဖြစ်သည့်) ၎င်း၏အတွေးများသည် မင်းသားကလေး အင်ဒရေအား အနှောင့်အယှက်ပြုလျက် ရှိကြသည်မှာ နက်ဖြန်တွင် တွေ့ကြုံရအံ့သော တိုက်ပွဲကြီးသည် မိမိပါ ဝင်တိုက်ခိုက်ခဲ့ဖူးသော တိုက်ပွဲများအနက် အပြင်းထန်ဆုံး၊ အခက်ခဲဆုံး၊ ကြောက်မက်ဖွယ်အကောင်းဆုံးသော တိုက် ပွဲကြီး ဖြစ်လိမ့်မည်ဟု မင်းသားကလေး အင်ဒရေတွေးမိ ၏။ ဤသို့ တွေးလိုက်သည်နှင့် တစ်ပြိုင်နက် သေခြင်း တရားသည်လည်း မိမိထံသို့ အချိန်မရွေး ရောက်လာနိုင်ကြောင်းကို မင်းသားကလေး အင်ဒရေ ပြက်ပြက်ထင် ထင် မြင်လာခဲ့လေပြီ။ ယခင်အခါက သေခြင်းတရား ၏အနက်အဓိပ္ပာယ်ကို တွေးတောခဲ့ဖူးသော်လည်း ဤမျှ လောက် ရှင်းရှင်းလင်းလင်းကြီး ထင်မြင်ခြင်းမရှိခဲ့။ သေ ခြင်းတရားကို တွေးလိုက်တိုင်း ဂုဏ်ကြီးခြင်း၊ ကျော်စော ခြင်းစသည့်အရာတို့သည် ဒွန်တွဲပေါ်လာကြကာ သေခြင်း တရား၏အဓိပ္ပာယ်သည် မှုန်ဝါးလျက်ရှိခဲ့သည်။ ယခု

ကား သေခြင်းတရား၏အနက်အဓိပ္ပာယ်သည် မိမိ၏ခန္ဓာကိုယ် ကြီးနှင့်တကွ မိမိဝိညာဉ်တို့ ချုပ်ပျောက် ပျက်စီးရတော့ မည်ဟူသောအသိနှင့်အတူ ထင်းထင်းကြီးပေါ်လာခဲ့လေ ပြီ။ သေခြင်းတရားတည်း ဟူသော တောင်ထွတ်ပေါ်မှ ကြည့်လိုက်သည့်အခါ၌ လောကတွင် ရှိရှိသမျှသော အရာ တိုင်းသည် ဖြူဖွေးဝင်းလျှပ်သော အလင်းရောင်ထဲတွင် ကြည့်လိုက်သကဲ့သို့ အလင်းအမှောင်၊ အနီးအဝေး၊ အနိမ့်အမြင့်တို့ မရှိကြတော့ဘဲ ပြောင်ပြောင်ထင်းထင်းကြီး ဖြစ်လာခဲ့ကြလေပြီ။ ထိုအခါ၌ လူ့ဘဝကြီးကို မြင်ရခြင်း သည် မျက်လှည့်ဆရာ၏မီးပုံးတွင် ရေးဆွဲထားသည့် အရုပ်ကားများကို လှပသော မီးမောင်းရောင်စုံအောက်တွင် မှန်ပြောင်းဖြင့် ကြည့်မြင်ရခြင်းကဲ့သို့ အတုအယောင်အလှ မျှသာဖြစ်ကြောင်းကို တွေ့ခဲ့ရလေပြီ။ ပုံပျက်ပန်းပျက် ဖြစ်လျက်ရှိသော လူ့ဘဝကားချပ်များကို ယခု ပကတိ မျက်စိဖြင့် ပကတိအလင်းရောင်ထဲတွင် မြင်နေရလေပြီ။

"ဟုတ်တယ်၊ ဒီမီးရောင်ကို ရွှေတောင် ထင်နေကြ တယ်၊ အတုအယောင်တွေကို အစစ် ထင်နေကြတယ်။ အတုအယောင်တွေကို ကြည့်ပြီး စိတ်လှုပ်ရှားကြတယ်၊ ပျော်ကြတယ်၊ ဝမ်းနည်းကြတယ်၊ တကယ်မဟုတ်တဲ့ သရုပ်သဏ္ဌာန်တွေကိုကြည့်ပြီး ငိုကြတယ်၊ ရယ်ကြတယ်"

မင်းသားကလေး အင်ဒရေသည် မျက်လှည့်ဆရာ ၏မီးပုံးပေါ်မှ အရုပ်ကားနှင့် ပမာတူသော လူ့ဘဝ၏ အဖြစ်အပျက်များကို သေခြင်းတရားတည်းဟူသော ပကတိ အလင်းရောင်၌ ဤသို့ ကြည့်မြင်မိ၏။

"ဟုတ်တယ်၊ လူ့ဘဝရဲ့ အဖြစ်အပျက်တွေဟာ - တစ်ခါက လှပတယ်၊ ခမ်းနားတယ်၊ ကြီးကျယ်တယ် လို့ ထင်ခဲ့ရတယ်၊ ဒါပေမဲ့ သေခြင်းတရားတည်းဟူသော ပကတိအလင်းရောင်ကြီးအောက်မှာ ကြည့်လိုက်တဲ့အခါ ကျတော့ ဒါတွေဟာ အလကားပဲ၊ တစ်ခါက ခမ်းနား ကြီးကျယ်တယ်လို့ ထင်ခဲ့ရတဲ့အရာတွေ

ဟာ လက်ရာကြမ်း ကြမ်းနဲ့ ရေးထားတဲ့အရုပ်ကားတွေနဲ့ ဘာထူးသေးသလဲ။ အလင်းအမှောင် မရှိ၊ အနီးအဝေး မရှိ၊ အနိမ့်အမြင့်၊ အမွမ်းအပြောက်စတဲ့ အဆင်တန်ဆာတွေ မရှိတော့ဘူး။

ကျော်စောကိတ္တိရှိခြင်း၊ ဘုန်းတန်ခိုးကြီးခြင်း၊ ဂုဏ်ကြီး ခြင်း၊ မိန်းမတစ်ယောက်ကို ချစ်ခင်စွဲလမ်းခြင်း၊ အဖနိုင်ငံ တော်ကြီး၏အကျိုးကို သယ်ပိုးခြင်းစတဲ့ ကိစ္စများဟာ တစ် ခါက ငါ့အဖို့ လောကမှာ အရေးအကြီးဆုံးအရာတွေ ဖြစ်ခဲ့တယ်၊ တန်ဖိုးအထားဆုံးအရာတွေ ဖြစ်ခဲ့တယ်။ အဓိပ္ပာယ်ရှိတဲ့အရာတွေ ဖြစ်ခဲ့တယ်။ ဒါပေမဲ့ ငါ့အပေါ်ကို ယှက်မိုးနေတဲ့ သေခြင်းတရားရဲ့ အလင်းရောင်ထဲမှာတော့ ဒီအရာတွေဟာ ဘာမျှ အဓိပ္ပာယ်မရှိတဲ့အရာ၊ ဘာမျှ မက်မောစရာမရှိတဲ့အရာ၊ ဘာမျှ ဆန်းကြယ်ခြင်းမရှိတဲ့ အရာတွေ ဖြစ်ခဲ့ရပြီ”

မင်းသားကလေးအင်ဒရေသည် ဤသို့ တွေးမိ၏။ အထူးသဖြင့် မိမိဘဝတွင် ကြေကွဲဖွယ်အကောင်းဆုံးသော အဖြစ်ကြီးသုံးခုကို စဉ်းစားမိ၏။ ၎င်းတို့ကား မိန်းမတစ် ယောက်ကို ချစ်ခဲ့မိခြင်း၊ ခမည်းတော်မင်းသားကြီး ဘို လကွန်စကီ ကံတော်ကုန်ခြင်းနှင့် မိမိ၏နိုင်ငံကို ပြင်သစ်တို့ ကျူးကျော်ဝင်ရောက်ခြင်းတို့ ဖြစ်ကြ၏။

“အချစ်ဆိုတာ ဘာလဲ၊ ငါ့အဖို့ အချစ်ဟာ နာ တာရှာပဲ၊ နားလည်နိုင်စွမ်းမရှိတဲ့ အင်အားစုတွေနဲ့ ဖွဲ့စည်း ထားတဲ့ကလေးမလေးပဲ၊ ဟုတ်တယ်၊ ငါဟာ နာတာရှာကို ချစ်မိခဲ့တယ်၊ စွဲလမ်းခဲ့မိတယ်၊ ရူးမူးခဲ့မိတယ်၊ တစ်ဦးနဲ့ တစ်ဦး အသည်းနှလုံးချင်းဖလှယ်ပြီး သေတစ်ပန် သက် တစ်ဆုံး ပျော်ရွှင်ချမ်းမြေ့စွာနေသွားကြမယ်လို့ စိတ်ကူး ယဉ်ခဲ့မိတယ်၊ နာတာရှာဟာ ငါမရှိတုန်း ငါ့အပေါ်မှာ သစ္စာရှိခဲ့လိမ့်မယ်လို့ မျှော်လင့်ခဲ့တယ်၊ ငါဟာ ဒီလောက ကြီးမှာ သစ္စာရှိတဲ့အချစ်၊ မွန်မြတ်သန့်စင်တဲ့အချစ်ရှိ လိမ့်မယ်လို့ စိတ်ကူးယဉ်ခဲ့တယ်၊ ငါနဲ့ ဝေးရင် နာတာ

ရှာ ဟာ ဒဏ္ဍာရီပုံပြင်ထဲက ချိုးငှက်ကလေးလို ရင်ကွဲနာ များ ကျလေမလားလို့ တောင် တွေးခဲ့မိသေးတယ်၊ သော် မိုက်လိုက်တဲ့ အင်ဒရေရယ်၊ စိတ်ကူးယဉ် လိုက်ပါဘိ၊ ဒါပေမဲ့ ခုတော့ ဒီအရာတွေအားလုံး မရှိတော့ဘူး၊ အလွန် , ရိုးပြီး အလွန်ကြောက်စရာကောင်းတဲ့ အဖြစ်မျိုးတွေကို ဖြစ်လာခဲ့ကြပြီ"

"ခမည်းတော်ကြီးဟာ တောင်ကတုံးပိုင်စားနယ် မြေကြီးကို တည်ခဲ့တုန်းက ဒီနေရာဟာ သူ့နေရာ၊ ဒီမြေ ဟာ သူ့မြေ၊ ဒီမြေပေါ်မှာ ဖြတ်သန်းတိုက်ခတ်တဲ့လေ ဟာ သူ့လေ၊ ဒီနယ်မြေမှာ မီတင်းလုပ်ကိုင်ကြတဲ့ ကျေး လက်တောင်သူမိလက္ခူ တွေဟာ သူ့ လူတွေ ထင်ခဲ့တယ်။ ဒါပေမဲ့ နပိုလီယန်ရောက်လာတဲ့အခါကျတော့ ခမည်း တော်ကြီးဟာ လွင့်စဉ်သွားခဲ့ရပြီး လောကမှာ မင်းသား ကြီး ဘိုလကွန်စ ကီဆိုတဲ့ လူတစ်ယောက်ရှိပါကလားလို့ တော့ နပိုလီယန် သိပုံမရဘူး။ နပိုလီယန် ဟာ သူ့လမ်းမှာ တွေ့တဲ့ အမှိုက်ကလေးတစ်ပင်ကို ကောက်လွှင့်ပစ်လိုက် သလို ခမည်းတော်ကြီးကို လွင့်စဉ်သွားအောင် လုပ်ပစ် လိုက်ပေတာပဲ။ အဲဒီလိုနဲ့ ခမည်း တော်ကြီးရဲ့ ဘဝနဲ့ သူ့ရဲ့ တောင်ကတုံးပိုင်စားနယ်မြေကြီးဟာ အစိတ်စိတ်အမြွှာမြွှာ ပျက်စီးသွားခဲ့ရပြီ။ အစ်မတော်မေရီ ထိပ်ထားကတော့ ဒီ အဖြစ်အပျက်တွေဟာ ကောင်းကင်ဘုံက ဘုရားသခင် အလိုတော်ကျ ဖြစ်ရတာ တဲ့။ ဘုရားသခင်က မှတ်ကျောက် တင် စစ်ဆေးနေတာတဲ့။ ဒါပေမဲ့ ခမည်းတော် ကြီး လူ့ပြည် မှာ မရှိတဲ့နောက် ဘယ်သူ့ကို မှတ်ကျောက်တင်စစ်ဆေး ပေးနေဦး မှာလဲ။ မှတ်ကျောက်တင် စစ်ဆေးတော့ကော ဘာဖြစ်မှာလဲ။ ခုတော့ ခမည်း တော်ကြီးရဲ့ ပိုင်စားနယ် မြေတွင် မကတော့ဘဲ အဖနိုင်ငံကြီးပါ ပျက်စီးရတော့ မယ်။ မော်စကိုမြို့ကြီးပါ ပျက်စီးရတော့မယ်။ မနက်ဖြန်ဆိုရင် ငါပါ ပျက်စီး ကောင်း ပျက်စီးတော့မယ်။ တိုက်ပွဲမှာ အသတ်ခံချင် ခံရတော့မယ်။ အချင်းချင်း မတော်တဆ ပစ်မိလို့ သေတာမဟုတ်ရင် ကံကောင်းတယ်လို့တောင် ဆိုရပေဦး မယ်။ မနေ့ကပဲ ငါ့တပ်သားတစ်ယောက်ပစ်တဲ့ ကျည် ဆန်ဟာ ငါ့နားရွက်နားက

သီသီကလေးပွတ်သွား ဖူးပြီ မဟုတ်လား။ တိုက်ပွဲမှာ ငါကျသွားရင် ငါ့အပုပ်ကောင် အတ္တဘောကြီးကို မကြည့်ချင်ကြတဲ့အတွက် ခေါင်း နဲ့ ခြေက မ,ကိုင်ပြီး ကျင်းထဲ ပစ်ချကြဦးတော့မယ်၊ အဲဒီ အခါကျရင် ငါမသိတဲ့ဘဝသစ်တစ်ခုကို တွေ့ရဦးတော့ မယ်၊ အဲဒီအခါကျရင် ငါဆိုတဲ့အတ္တလဲ ပျောက်ရဦးတော့ မယ်”

မင်းသားကလေး အင်ဒရေသည် ဤသို့တွေးလျက် ရှိရာမှ နေရောင်ခြည်ထဲတွင် မလှုပ်မရှား ရပ်နေကြသော သစ်ဖြူပင်တန်းများကို လှမ်းကြည့်လိုက်မိသည်။ ဖြူဖွေး သောသစ်ခေါက်များ၊ မြတစ်ဝက် ရွှေတစ်ဝက်၊ စိမ်းတစ် ဝက် ဝါတစ်ဝက်၊ နီတစ်ဝက် မောင်းတစ်ဝက် အရောင် ချင်းယှက်လျက်ရှိသော သစ်ရွက်ရော်ရီများသည် နေရောင် ဖြင့်လင်းလျက် ရှိကြ၏။

“ဟုတ်တယ်၊ မနက်ဖြန်ဆိုရင် တိုက်ပွဲမှာ မကျဘူး လို့ ဘယ်သူမှ မပြောနိုင်ဘူး၊ ငါဆိုတဲ့ အတ္တဘောကြီးဟာ မနက်ဖြန် ဒီအချိန်မှာ ရှိကောင်းမှ ရှိတော့မယ်၊ ဟောဒီ ဩကာသလောကကြီးဟာ ဒီအတိုင်း ကျန်ရှိနေဦးပေမယ့် ငါတော့ ရှိချင်မှ ရှိတော့မယ်” ။

ဤသို့ တွေးလိုက်သည်နှင့် လင်းတစ်ဝက် မှောင် တစ်ဝက်ရှိသောသစ်ပင်များ၊ နဂါးလိမ် ခြူးအိမ်ဆိုင်းသည့် နှယ်ရှိသော တိမ်တောင်တိမ်လိပ်များ၊ တလူလူလွင့်လျက် ' ရှိသော စခန်းမီးပုံမှ မီးခိုးများနှင့်တကွ ပတ်ဝန်းကျင်တစ်ခုလုံးသည် မင်းသားကလေးအင်ဒရေအဖို့ ကြောက်ဖွယ် သဏ္ဍာန်ကို ဆောင်လာကြသည်။ မင်းသားကလေး အင်ဒ ရေ၏ကျောသည် စိမ့်ခနဲဖြစ်သွားကာ ကြက်သီးဖြန်းဖြန်း ထလာ၏။ မင်းသားကလေးအင်ဒရေသည် ရုတ်ခနဲထ၍ တင်းကုပ်ပြင်ဘက်သို့ ထွက်လာကာ လမ်းလျှောက်နေမိ သည်။

လမ်းလျှောက်ရာမှအပြန် တင်းကုပ်ထဲတွင် ထိုင် နေစဉ် အပြင်ဘက်မှအသံတစ်သံကို ကြားလိုက်ရ၏။

“ဘယ်သူလဲဟေ့” မင်းသားကလေးအင်ဒရေက မေးလိုက်၏။

နှာခေါင်းနီနီနှင့် ဗိုလ်ကြီးတီမိုခင်သည် ရှက်အမ်း ( အမ်းမျက်နှာထားဖြင့် တင်းကုပ်ထဲသို့ ဝင်လာ၏။ တီမိုခင် သည် ယခင်က ဒိုလိုကော့ဗ်တို့ တပ်ခွဲမှူးဖြစ်သော်လည်း ယခုအချိန်တွင် လူရှားသဖြင့် တပ်ရင်းမှူးအဖြစ် အမှုထမ်း လျက်ရှိလေသည်။ ၎င်း၏နောက်မှ တပ်ရေးဗိုလ်တစ်ဦး နှင့် လစာထုတ် ဗိုလ်တစ်ဦးတို့ လိုက်ပါလာကြ၏။

မင်းသားကလေးအင်ဒရေသည် ထိုင်ရာမှ ထလာ ကာ ၎င်းတို့ကိစ္စကို မေးမြန်းပြီးနောက် လိုအပ်သောညွှန် ကြားချက်များကို ပေးလျက်ရှိ၏။ ကိစ္စပြီး၍ ၎င်းတို့တစ် သိုက် ပြန်ခါနီး၌ တင်းကုပ်နောက်မှ အသံတစ်သံ ကြား လိုက်ရ၏။ ထိုအသံကို မင်းသားကလေးအင်ဒရေ ကြား  ဖူးသည်ဟု အောက်မေ့မိသည်။

“တောက် အရေးထဲမှာ” ထိုအသံမှာ ခလုတ်တိုက် မိ၍ ဆဲရေးတိုင်းထွာလိုက်သော လူတစ်ယောက်၏အသံ ဖြစ်၏။

မင်းသားကလေးအင်ဒရေ တင်းကုပ်ပြင်ဘက်သို့ ထွက်ကြည့်လိုက်သောအခါ ဝါးလုံးတန်းတစ်ခုကို တိုက် မိ၍လဲတော့မည်ပြုရာမှ ကိုယ်ကိုဟန်ကာ တင်းကုပ်ဘက် သို့ ဆက်လျှောက်လာသော ပီယာကို မြင်လိုက်ရသည်။ မင်းသားကလေးအင်ဒရေသည် ယေဘုယျအားဖြင့် မိမိ၏ ပေါင်းဟောင်းသင်းဟောင်းများနှင့် တွေ့ရခြင်းကို မနှစ်မြို့ လှချေ။ အထူးသဖြင့် ပီယာနှင့် သာ၍မတွေ့လိုချေ။ အကြောင်းမူကား ပီယာကို မြင်လိုက်ရခြင်းသည် မိမိ၏ အနာဟောင်းကို ဆွပေးသကဲ့သို့ ရှိသောကြောင့်တည်း။

“သြော် ခင်ဗျားကိုး၊ အံ့သြစရာပါ၊ ဆိုစမ်းပါဦး ဘာကိစ္စ ဒီကိုရောက်လာရတာလဲ၊ ကျုပ်တော့ ခင်ဗျားကို တွေ့ရလိမ့်မယ်လို့ လုံးလုံးမမျှော်လင့်ဘူး”

မင်းသားကလေးအင်ဒရေက ပြောလိုက်၏။ ဤ စကားများကို ပြောလျက်ရှိစဉ် မင်းသားကလေးအင်ဒရေ ၏မျက်လုံးနှင့် တကွ မျက်နှာထားသည် ဖော်ရွေခြင်း မရှိရုံမျှမက ရန်လိုသည့်အသွင်ကို ဆောင်လျက် ရှိသည်။ ဤသဘောကို ပီယာကလည်း ချက်ချင်းသတိထားလိုက်မိ သည်။ ပီယာသည် မင်းသားကလေးအင်ဒရေထံ အားရ ဝမ်းသာရောက်လာခဲ့ခြင်း ဖြစ်သော်လည်း မင်းသားကလေး အင်ဒရေ၏မျက်နှာထားကို မြင်လိုက်ရသည့်အခါ၌ ခပ် အမ်းအမ်းဖြစ်သွား၏။

"ကျွန် ကျွန် ကျွန်တော်လာတာလား၊ ဘာ ဘာမှ အကြောင်းမရှိပါဘူးဗျာ၊ စိတ်ဝင်စားတာနဲ့ လာခဲ့ တာပါ" ပီယာကလဲ တစ်နေ့လုံး ဖန်တစ်ရာတေအောင် ပြောလာခဲ့သည့်စကားလုံးကို ရွတ်လိုက်၏။

"တိုက်ပွဲကို ကြည့်ချင်လို့ ဆိုပါတော့"

"သော် ဒီလိုလား၊ ခင်ဗျားတို့ ညီအစ်ကိုတော် ဂိုဏ်းသားတွေက စစ်နဲ့ ပတ်သက်လို့ ဘယ်လိုများ အဆို အမိန့်ရှိကြသလဲဗျ၊ ငြိမ်းချမ်းရေးရအောင် ဘယ်လိုများ လုပ်ကြဦးမှာတဲ့လဲ" မင်းသားကလေး အင်ဒရေက ခပ် လှောင်မှောင် မေးလိုက်သည်။

"ဘယ့်နှယ်လဲ၊ မော်စကိုအခြေအနေကော ဘယ်လို  လဲ၊ ကျုပ်သားတော်နဲ့ အစ်မတော်များကော မော်စကိုကို ချောချောမောမော ရောက်ကြရဲ့လား"

ဤအခါ၌မူ မင်းသားကလေးအင်ဒရေက အလေး အနက် မေးလိုက်၏။

"ရောက်ပါတယ်၊ အားလုံး ချောချောမောမောပဲ လို့ ဂျူလီ(ဘိုးရစ်စ်၏ဇနီး) က ပြောတာပဲ၊ ကျွန်တော်လဲ ခင်ဗျားအစ်မတော်ဆီ သွားခဲ့သေးတယ်၊ ဒါပေမဲ့ သူတို့က မော်စကိုနားက ခင်ဗျားတို့ ပိုင်စားနယ်မြေဘက် ပြောင်း သွားလို့ မတွေ့ခဲ့ရဘူးဗျ"

# အခန်း ၂၅

မင်းသားကလေးအင်ဒရေ၏ တင်းကုပ်ထဲတွင် ရောက်နေ သည့် တီမိုခင်တို့ လူသိုက်သည် ဧည့်သည်ရောက်လာ သည့်အတွက် ထပြန်ရန် ဟန်ပြင်လိုက်ကြ၏။ သို့ရာတွင် မင်းသားကလေးအင်ဒရေမှာ ပီယာနှင့် နှစ်ယောက်တည်း မနေလိုသည့်ဟန်ဖြင့် ၎င်းတို့အား လက်ဖက်ရည် သောက် ပြီးမှ ပြန်ကြရန် တားထားလိုက်သည်။ ခဏကြာလျှင် ထိုင်ဖုံများနှင့် လက်ဖက်ရည်ခွက်များ ရောက်လာ၏။ တပ်ဗိုလ်များသည် ပီယာ၏ကြီးမားတုတ်ခိုင်သည့် ခန္ဓာ ကိုယ်ကြီးကို တအံ့တသြကြည့်ကာ မော်စကိုမြို့၏ အခြေအနေနှင့်တကွ နံနက်ခင်းကတွေ့မြင်ခဲ့ရသော ခံစစ် ကြောင်းအနေအထားတို့ကို ပြောဆိုလျက်ရှိသည့် ပီယာ၏ စကားများကို နားထောင်နေကြသည်။ မင်းသားကလေး အင်ဒရေမှာ တစ်ချိန်လုံး တိတ်ဆိတ်လျက်ရှိ၏။ ၎င်း၏ မျက်နှာကလည်း မလိုလားသောအသွင်ကိုဆောင်လျက် ရှိသဖြင့် ပီယာမှာ သဘောကောင်းသောတပ်ရင်းမှူး တီမို ခင်ဘက်သို့သာလှည့်၍ စကားပြောနေရသည်။

"ဒါဖြင့် ကျုပ်တို့ ခံစစ်ကြောင်းအနေအထားကို ခင်ဗျားနားလည်ပြီ ဆိုပါတော့"

မင်းသားကလေးအင်ဒရေက ကြားဖြတ်မေးလိုက် သည်။

"ဟုတ်ကဲ့ ဆိုပါတော့၊ ဒါပေမဲ့ ကျွန်တော်က စစ်သားတစ်ယောက်မဟုတ်တော့ အသေးစိတ် နားလည် တယ်လို့တော့ မဆိုနိုင်ဘူးပေါ့ဗျာ၊ ယေဘုယျပဲ ဆိုပါတော့"

”အေးလေ၊ နားလည်တယ်လို့ပဲ ဆိုကြပါစို့၊ စစ်သားဟုတ်တာ မဟုတ်တာ ကတော့ ထားပါတော့” မင်းသားကလေး အင်ဒရေက ဆို၏။

“ဟာ ဒီလိုတော့လဲ မဟုတ်သေးပါဘူးလေဗျာ” ပီယာက မင်းသားကလေး အင်ဒရေကို နားမလည်နိုင်ဘဲ မျက်မှန်ပေါ်မှ ကျော်ကြည့်လိုက်၏။ “ဒါ့ထက် ကူတူဇော် ကို စစ်သေနာပတိချုပ်ခန့်တဲ့ကိစ္စနဲ့ ပတ်သက်လို့ ခင်ဗျား ဘယ်လိုသဘောရသလဲ”

“ကျုပ်ကတော့ သဘောကျတယ်ဗျ၊ ဒီလောက်ပဲ ပြောတတ်တယ်” မင်းသားကလေး အင်ဒရေက ဖြေ၏။

“ဗိုလ်ချုပ်ဘာကလေနဲ့ ပတ်သက်လို့ကော ရောင်း ရင်း ဘယ်လို သဘောထားသလဲ၊ မော်စကိုမှာတော့ သူနဲ့ ပတ်သက်လို့ ထင်မြင်ချက် မပေးတတ်အောင် ဖြစ်နေကြ တယ်၊ ရောင်းရင်း .ဘယ်လိုထင်သလဲ”

“သူတို့ကို မေးကြည့်လေ” မင်းသားကလေး အင် ဒရေက တပ်ဗိုလ်များ ဘက်သို့ မေးငေါ့ပြလိုက်၏။

- ပီယာက အထင်သေးဟန် မယုံမရဲအပြုံးမျိုးဖြင့် တီမိုခင်ကို ကြည့် လိုက်၏။ တီမိုခင်ကို မြင်သူတိုင်းသည် ဤသို့ မယုံမရဲ အထင်သေးဟန်ဖြင့် ကြည့်တတ်ကြသည်။

“ကျွန်တော်တို့အဖို့တော့ ဗိုလ်ချုပ်ကြီးကူတူဇော့ဗ် ကို စစ်သေနာပတိချုပ် ခန့်လိုက်တာဟာ ကမ္ဘာဦးသူတို့ အလင်းရောင်ကို မြင်ရတာနဲ့ အတူတူပဲခင်ဗျ” တီမိုခင် က မရဲတရဲပြုံး၍ ၎င်း၏ဗိုလ်မှူးကြီး အင်ဒရေကို ကြည့် လိုက်သည်။

“ဘာဖြစ်လို့” ပီယာက မေး၏။

“ဒီပြင်ကိစ္စကို မကြည့်နဲ့ ခင်ဗျ၊ သူရောက်လာ တယ်ဆိုရင်ဘဲ ထင်းနဲ့ မြင်းစာကိစ္စ အဆင်ပြေသွားပြီ။ အရင်တုန်းကဆိုရင် ထင်းတစ်ချောင်း၊ ကောက်ရိုး တစ်ပင် တောင် မထိရဘူး၊ သိပ်တင်းကျပ်တာပဲ၊ စဗင်စယာနီက ဆုတ်ခဲ့ရတုန်းက ဆိုရင် အရပ်သူ အရပ်သားပစ္စည်းကို လက်ဖျားနဲ့တောင် မထိရဘူးလို့ အမိန့် ထုတ်ထားခဲ့တယ်။ ဒီပစ္စည်းတွေ ကျွန်တော်တို့မယူတော့ ဘာဖြစ်သလဲ။ ရန်သူ့ လက်ထဲ အကုန်ရောက်ကုန်တာပေါ့၊ မဟုတ်ဘူး လားဟင် ကိုယ်တော်လေး”

တီမိုခင်က မင်းသားကလေး အင်ဒရေဘက်သို့ လှည့်၍ ပြောလိုက်၏။

”ကျွန်တော်တို့လဲ ဘာပစ္စည်းမှ မယူရဲဘူး၊ ယူမိတဲ့ တပ်ဗိုလ်နှစ်ယောက်က စစ်ခုံရုံး တင်ခံရတယ်၊ ဟော ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်လက်အောက်ရောက်တော့ ဒီလို ကိစ္စတွေ မရှိတော့ဘူးခင်ဗျ။ အဆင်ပြေလို့၊ ယူချင်ရာ၊ ယူ၊ ဘာမှ မဖြစ်ဘူး၊ ကျွန်တော်တို့အဖို့တော့ ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်ရောက်လာခြင်းဟာ တကယ့် အလင်း ရောင်ကို ရတာနဲ့ အတူတူပဲ ခင်ဗျ”

“ခုအချိန်ကျမှ ဗိုလ်ချုပ် ဘာကလေက ဘာကြောင့် အရပ်သူ အရပ်သား ပစ္စည်း မယူရလို့ အမိန့်ထုတ်နေရ တာလဲဗျ”

တီမိုခင်သည် ထိုမေးခွန်းကို မဖြေတတ်တော့ဘဲ အကူအညီတောင်းသည့် အနေဖြင့် တပ်ဗိုလ်များ၏မျက်နှာ များကို လိုက်ကြည့်နေသည်။ ပီယာက ထို မေးခွန်းကို ( မင်းသားကလေး အင်ဒရေအား ထပ်မေးလိုက်၏။

“ဘာကြောင့် ရမလဲဗျ၊ ကျုပ်တို့ စွန့်ပစ်ခဲ့တဲ့ နယ်မြေတွေကို ရန်သူဝင်သိမ်း တဲ့အခါမှာ အပျက်အစီးမရှိ အကောင်းပကတိအတိုင်း ရပါစေဆိုတဲ့ မဟာစေတနာ ကြောင့်ပေါ့”

မင်းသားကလေး အင်ဒရေက နာကြည်းစွာဖြင့် ခပ်လှောင်လှောင်ပြော လိုက်၏။

"မှန်ပါတယ်၊ စစ်ဗိုလ်ချုပ်တစ်ယောက်ဟာ ကိုယ် အုပ်ချုပ်တဲ့နယ်မြေထဲမှာ လုယက်ဖျက်ဆီးမှုတွေ မရှိအောင် ထိန်းသိမ်းရမယ်၊ ကိုယ့်တပ်သားတွေ လုယက်တဲ့အကျင့် ဆိုးကြီး မရှိအောင် ကွပ်ကဲရမယ်၊ စည်းကမ်းသေဝပ်အောင် ထားရမယ်၊ ဒါတွေဟာ အလွန်ကောင်းတဲ့မူတွေပါပဲ။ ကျုပ် ဘာမှ မပြောလိုပါဘူး၊ ဗိုလ်ချုပ် ဘာကလေဟာ စစ်ဗိုလ်ချုပ်ကောင်းတစ်ယောက် ပီသစွာ ကိုယ့်တပ်သား တွေကို စည်းကမ်းတကျ ကွပ်ကဲထိန်းသိမ်းခဲ့တာပါပဲ။ စမိုးလင့်မှာတုန်းကလဲ ရန်သူဟာ ကျုပ်တို့ထက် အင်အား အဆမတန်ကြီးတဲ့အတွက် ကျုပ်တို့ကို ကင်းလက်မ သဏ္ဌာန်ညှပ်ပြီး ထိုးလိမ့်မယ်လို့ ဗိုလ်ချုပ် ဘာကလပ် ဟောကိန်းထုတ်ခဲ့တာပဲ၊ သူ့ဟောကိန်းဟာလဲ မှန်ခဲ့ပါ တယ်၊ ဒါပေမဲ့ ဗိုလ်ချုပ် ဘာကလေ အကြီးအကျယ် နားမလည်တဲ့ အချက်ကြီး တစ်ချက် ရှိတယ်ခင်ဗျ"

မင်းသားကလေးအင်ဒရေသည် စိတ်အားထက် သန်စွာပြောဆိုလျက်ရှိ သဖြင့် ၎င်း၏အသံသည် အမှတ် "

တမဲ့စူထွက်လာ၏။

"အဲဒီအချက်က တခြားမဟုတ်ဘူး၊ ခု စစ်ပွဲကြီး က ကျုပ်တို့အဖို့ ရုရှားနိုင်ငံရဲ့ မြေကြီးပေါ်မှာ ရုရှားနိုင်ငံ ကြီးရဲ့ အကျိုးအတွက် ပထမဆုံးအကြိမ် တိုက်ရမယ့် စစ်ပွဲကြီးဖြစ်တယ်ဆိုတဲ့ အချက်ပဲ၊ ကျုပ်တို့ တပ်မတော် များဟာ တစ်ခါမှ မရှိဖူးတဲ့ စစ်စိတ် စစ်မာန်တွေနဲ့ တက် ကြွနေကြတယ်၊ ရန်သူကိုတိုက်ဖို့ လက်ယားနေကြတယ်။ အင်မတန်ပြင်းထန်တဲ့ ဇာတိမာန်စိတ်ဓာတ်နဲ့ ရန်သူတွေ ကို ရှေ့တစ်လက်မမှ အတက်မခံဘဲ နှစ်ရက်တိုင်တိုင် ဟန့်တားထားနိုင်ခဲ့ကြတယ်၊ ဒီလို ဟန့်တားထားနိုင်ခဲ့တဲ့ အတွက်လဲ ကျုပ်တို့ရဲ့ ခွန်အားသတ္တိတွေဟာ ဆယ်ပြန်

လောက် တိုးလာခဲ့ကြတယ်၊ အဲဒီအချက်ကို ခင်ဗျားတို့ ဗိုလ်ချုပ်ကြီးဘာကလေ နားမလည်ဘူးဗျ၊ နားမလည်တဲ့ အတွက် တပ်တော်တွေကို အဆုတ်ခိုင်းခဲ့တာပေါ့၊ မဟုတ် ဘူးလား၊ ဒီလိုနဲ့ ကျုပ်တို့ကြိုးစားသမျှ ကျုပ်သွေးသောက် တွေ တောကြို တောင်ကြားမှာ အသေခံခဲ့ရသမျှတွေဟာ အချည်းနှီး အကျိုးမဲ့ဖြစ်ခဲ့ရတယ်ဗျ၊ ဒီ လိုဆိုခြင်းအားဖြင့် ဗိုလ်ချုပ်ဘာကလေမှာ ကျုပ်တို့ကို သစ္စာဖောက်ဖို့ စိတ်ကူး မျိုးရှိတယ်လို့ ကျုပ်မဆိုလိုပါဘူး၊ မရှိတဲ့အပြင် သူအတတ် နိုင်ဆုံး၊ အကောင်းဆုံး ဖြစ်အောင် ကြိုးစားခဲ့တာချည်းပါပဲ။ အစစအရာရာစဉ်းစားပြီးမှ တိကျသေချာစွာ လုပ်ခဲ့တာ ချည်းပါပဲ၊ ဒါပေမဲ့ ကျုပ်အမြင်မှာတော့ အဲဒီလို အစဉ်းစား ကြီးလွန်း၊ တိကျလွန်း၊ သေချာလွန်းတဲ့အတွက်ကြောင့် ကိုပဲ ဗိုလ်ချုပ်ဘာကလေဟာ စစ်သေနာပတိချုပ်ရာထူး နဲ့ မသင့်လျော်ဘူးလို့ ဆိုချင်သဗျ၊ ဂျာမန်လူမျိုးပီပီ စေ့စပ် သေချာလွန်း၊ တိကျလွန်း၊ အစဉ်းစားကြီးလွန်းတဲ့ အတွက် ကြောင့်ပဲ ဗိုလ်ချုပ်ကြီးဘာကလေဟာ ဒီအချိန်မျိုးမှာ စစ်သေနာပတိချုပ် မဖြစ်ထိုက်ဘူးဗျ၊ ရောင်းရင်း နားရှုပ် သွားသလား၊ ဥပမာ ခင်ဗျားခမည်းတော်ကြီးမှာ ဂျာမန် လက်ပါးစေတစ်ယောက် ရှိတယ်ဆိုပါစို့၊ အဲဒီ ဂျာမန် လက်ပါးစေဟာ လက်ပါးစေ ကောင်းတစ်ယောက်လဲ ဖြစ် တယ်၊ ခင်ဗျား ခမည်းတော်ကြီးရဲ့ ဗာဟီရကိစ္စတွေ ကိုလဲ ဆောင်ရွက်တဲ့နေရာမှာ ခင်ဗျားထက် ကျွမ်းကျင်တယ် ဆိုလို့ရှိရင် ခင်ဗျား ဘာမှ လှည့်ကြည့်စရာမလိုဘူးဗျ။ ခင်ဗျား ခမည်းတော်ကြီးကို ပြုစုဖို့ လက်ပါးစေ ကို စိတ်ချ လက်ချကြီး တာဝန်လွှဲထားနိုင်တယ်၊ ဒါက သာမန်အချိန် မျိုးမှာ ဖြစ် သင့်တဲ့ကိစ္စ၊ ဒါပေမဲ့ ခင်ဗျားခမည်းတော်ကြီး ဟာ သေကောင်ပေါင်းလဲ နာမကျန်း ဖြစ်နေပြီဆိုရင်တော့ သူ့ကိုချည်း တာဝန်လွှဲထားလို့ မဖြစ်တော့ဘူး၊ ခင်ဗျား ကျွမ်းကျင်သည်ဖြစ်စေ၊ မကျွမ်းကျင်သည်ဖြစ်စေ ခင်ဗျား ကိုယ်တိုင် ကိုယ်ဖိရင်ဖိ ပြုစုရတော့မယ်၊ သွေးရင်းသားရင်း တစ်ယောက်ရဲ့ ပြုစုယုယခြင်းဟာ ကျွမ်းကျင် နားလည်တဲ့ သူစိမ်းတစ်စုံတစ်ယောက်ရဲ့ ပြုစုခြင်းထက် အများကြီး တာသွား

တယ်ချ၊ ဗိုလ်ချုပ်ဘာကလေကိုလဲ ကျုပ် ဒီအတိုင်း ပဲမြင်တယ်ဗျ၊ ကျုပ်တို့ အမိနိုင်ငံကြီး ကျန်းမာသန်စွမ်းနေ တုန်းမှာ နိုင်ငံခြားသားတစ်ယောက်လာပြီး အမှုထမ်းနိုင် ပါတယ်၊ သူ့ကို ဝန်ကြီးသက်တော်ရှည် ခန့်ချင်သပ ဆိုရင်လဲ ခန့်နိုင်ပါတယ်၊ အကြောင်း မဟုတ်ပါဘူး၊ ဒါပေမဲ့ အမိနိုင်ငံကြီး မကျန်းမမာဖြစ်ပြီး ချည့်နဲ့ပြီး ရောဂါဖောက် လို့ အသက်ကို လုရမယ့်အချိန် ရောက်နေပြီဆိုရင်တော့ ဒီလူမမာ အဖေကြီးကို နိုင်ငံခြားသားလက်ထဲမှာ စိတ်ချ လက်ချ အပ်မထားနိုင်တော့ဘူးခင်ဗျ၊ တတ်သည်ဖြစ်စေ၊ မတတ်သည်ဖြစ်စေ သွေးရင်းသားရင်းတွေထဲက ပြုစုဖို့ လိုလာပြီ။ ဒါပေမဲ့ တချို့က ဗိုလ်ချုပ်ဘာကလေကို သစ္စာ ဖောက်လိုလို စွပ်စွဲနေကြတယ်ဗျ။ တစ်နေ့ကျတော့ ဒီလူ တွေပဲ သူ့ကို ပြန်ပြီး သူရဲကောင်းကြီး၊ စစ်ပါရဂူကြီးအဖြစ် ပြန်ချီးကျူးကြဦးမှာပဲဗျ၊ လူတစ်ယောက်ကို ချိုးချိုးဖွဲ့ဖွဲ့ ပြောလေ့ရှိတဲ့လူတွေဟာ တစ်နေ့ကျတော့ သူတို့အမှားကို ( သူတို့ မြင်ပြီး အမှားကို ပြန်ဖုံးတဲ့အနေနဲ့ အဲဒီလူကိုပဲ မိုးထိလုခမန်း အလွန်အကျွံ ချီးမြှောက်တတ်ကြတယ်ဗျ။

ထီ၊ ဒါမျိုးကတော့ ရှက်စရာကောင်းလှတယ်ဗျ။ ကိုယ့်မှာလဲ သိက္ခာမရှိရာကျသေးတယ်၊ တစ်ဖက်သားကိုလဲ ချီးမြှောက် ရာမရောက်ဘူး၊ ကျုပ်ဟာ ခုလိုလူမမာကြီး ရောဂါ ဖောက်နေချိန်မှာ ဗိုလ်ချုပ်ဘာကလေလို နိုင်ငံခြားသား တစ်ယောက် စစ်သေနာပတိချုပ်ဖြစ်တာကို မနှစ်သက်ပေ မယ့် သူ့ကို သစ္စာဖောက်လို့တော့ မစွပ်စွဲဘူးခင်ဗျ။ လူ တစ်ယောက်အနေနဲ့ ကြည့်ရင် ဗိုလ်ချုပ်ဘာကလေဟာ အင်မတန်ရိုးဖြောင့်ပြီး ကြိုးစားတဲ့ ဂျာမန်တစ်ယောက်လို့ မြင်တယ်”

“ပြီးတော့ ဗိုလ်ချုပ် ဘာကလေဟာ သေနင်ဗျူ ဟာအရာမှာ ကျွမ်းကျင်တဲ့ စစ်ပါရဂူတစ်ဦးဆိုတာကောဗျ ဟုတ်သလား” ပီယာက မေးလိုက်၏။

”ကျွမ်းကျင်တဲ့ စစ်ပါရဂူ” ဆိုတဲ့ စကားကို ကျုပ် နားမလည်ဘူးဗျ၊ ဘာကို ဆိုလိုတာလဲ” မင်းသားကလေး အင်ဒရေက ခပ်မှောင်မှောင် မေးလိုက်သည်။

“စစ်မှုရေးရာကိစ္စများမှာ ရှေ့အကျပ်အတည်း အခက်အခဲတွေကို ကြိုတင်မြင်နိုင်တဲ့ အရည်အချင်း ရှိ တယ်၊ တစ်ဖက်ရန်သူရဲ့ ကြံရွယ်ချက်တွေကို ကြိုတင်သိ တဲ့အရည်အချင်းရှိတယ်ဆိုတဲ့ သဘောပေါ့ဗျာ”

“မဖြစ်နိုင်ပါဘူးဗျာ ဒါတွေကတော့ တောရမ်းမယ် ဘွဲ့ ပြောတဲ့ စကားတွေပါ” မင်းသားကလေးအင်ဒရေက ကြာရှည်လေးမြင့်စွာကပင် အဖြေထွက်ပြီးသားကိစ္စတစ်ရပ် ကဲ့သို့ ခပ်ပိုင်ပိုင် ပြောလိုက်သည်။

ပီယာသည် မင်းသားကလေး အင်ဒရေကို တအံ့ တသြ ကြည့်လိုက်သည်။

“မဟုတ်သေးဘူးလေ၊ စစ်တိုက်ခြင်းဟာ စစ်တုရင် ထိုးခြင်းနဲ့ တူတယ်လို့ ဆိုကြတယ် မဟုတ်လား”

“ဟုတ်တယ် အတူတူပဲ၊ ဒါပေမဲ့ နည်းနည်းတော့ ကွာခြားချက်ရှိတယ်၊ စစ်တုရင်ထိုးတဲ့ကိစ္စမှာ တစ်ကွက် ရွှေ့မယ်ကြံတိုင်း ခင်ဗျား ကြိုက်သလောက် စဉ်းစားနိုင် တယ်၊ အချိန်ယူနိုင်တယ်၊ တစ်ဖက်ကလူကလဲ ခင်ဗျား ရွှေ့ပြီးအောင် စောင့်တယ်၊ ဒါပေမဲ့ စစ်တိုက်တဲ့ကိစ္စမှာ ရန်သူက ခင်ဗျားကို စောင့်မနေဘူးခင်ဗျ၊ ဒါက တစ်ချက်၊ နောက်ကွာခြားချက်တစ်ရပ်က စစ်တုရင်ထိုးတဲ့ကိစ္စမှာ စစ်က် တစ်ကောင်ဟာ နယ်ရုပ်တစ်ရုပ်ထက် အမြဲတမ်း အားသာတယ်၊ နယ်ရုပ်နှစ်ရုပ်ဟာလဲ နယ်ရုပ်တစ်ရုပ်ထက် အမြဲတမ်း အားကောင်းတယ်၊ ဒါပေမဲ့ စစ်ပွဲမှာတော့ ဒီလို မဟုတ်ဘူးခင်ဗျ၊ တပ်ရင်းတစ်ရင်းဟာ တစ်ခါတလေ ကျတော့ တပ်မကြီး တစ်တပ်ထက် အားကောင်းနေတတ်ပြီး တစ်ခါတလေကျတော့လဲ တပ်ခွဲလေး တစ်ခွဲလောက် တောင် အားမရှိတဲ့အခါမျိုးလဲ ရှိတတ်တယ်၊ စစ်မြေပြင် မှာ ရင်ဆိုင်တိုက်နေတဲ့ စစ်တပ်ကြီးနှစ်တပ်အနက် ဘယ်သူ ကဖြင့် ဘယ်သူထက်

အင်အားကောင်းတယ်လို့ ဘယ်သူမှ နှိုင်းယှဉ်ပြီး ဟောကိန်း မထုတ်နိုင်ဘူးခင်ဗျ၊ စစ်သည် အင်အားများခြင်းကြောင့် စစ်တပ်တစ်တပ်ဟာ အားကြီး ပြီလို့လဲ မဆို နိုင်ဘူး၊ ဒီမှာ ရောင်းရင်း ကျုပ်ပြောမယ်”

မင်းသားကလေးအင်ဒရေက စကားကို အမျှင် မပြတ်ပြောနေသည်။

”စစ်ပွဲတစ်ပွဲရဲ့ အနိုင်အရှုံးဟာ စစ်ဦးစီးဌာနချုပ် က ဆွဲပေးတဲ့ စီမံကိန်းတွေ အပေါ်မှာသာ တည်တယ်ဆို ရင် စစ်ဦးစီးဌာနချုပ်မှာထိုင်ပြီး ဒီထက် အဆများစွာ ကောင်းတဲ့ စီမံကိန်းတွေကို ကျုပ်ဆွဲပြပါ့မယ်၊ တကယ်ပါ။

စီမံကိန်းတွေကောင်းရုံနဲ့ မရဘူးဗျ၊ စီမံကိန်းကောင်းရုံနဲ့ မရဘူး၊ ဒါကြောင့် ကျုပ်ဟာ ဟောဒီက ရဲဘော်တွေ၊ သွေးသောက်တွေနဲ့ စစ်မြေပြင်ထွက်ပြီး အမှုထမ်းခြင်း ဖြစ်တယ်၊ စစ်ရုံးချုပ်မှာထိုင်ပြီး စက္ကူပေါ်မှာ ကြီးကြီး ကျယ်ကျယ် ရေးနေခြင်းထက် ဟောဒီသွေးသောက်တွေနဲ့ သေအတူ ရှင်အတူ တိုက်ရတာက ပို ပြီး အဓိပ္ပာယ်ရှိတယ်။ ဂုဏ်ရှိတယ် သိရဲ့လား၊ မနက်ဖြန်တိုက်မယ့် တိုက်ပွဲရဲ့ အရှုံးအနိုင်ဟာ ကျုပ်တို့အပေါ်မှာ တည်တယ်၊ စစ်ရုံးချုပ် မှာထိုင်ပြီး ဉာဝါးဖြန်း သန်းနေတဲ့ ခင်ဗျားတို့ စစ်ဦးစီး ဌာနချုပ်ဗိုလ်တွေပေါ်မှာ မတည်ဘူး၊ စစ်ပွဲတစ်ပွဲရဲ့ အရှုံး အနိုင်ဟာ ခံစစ်အနေအထား၊ လက်နက်အင်အား၊ လူ ( အင်အားစတဲ့ အရာ တွေပေါ်မှာလဲ မတည်ဘူး၊ နောင်လဲ အဲဒီအရာတွေပေါ်မှာ ဘယ်တော့မှ တည်လိမ့် မယ် မဟုတ် ဘူး”

“ဒါဖြင့် ဘယ်ပေါ်မှာ တည်သလဲဗျာ”

“ကျုပ်ရင်ထဲမှာရှိတဲ့ စိတ်ဓာတ်၊ သူ့ရင်ထဲမှာ ရှိတဲ့စိတ်ဓာတ်” မင်းသား ကလေးအင်ဒရေက တီမိုခင်ကို ညွှန်ပြလိုက်၏။ “ဟောဒီတပ်သားတွေ အားလုံးရဲ့ ရင်ထဲ - မှာရှိတဲ့စိတ်ဓာတ်တွေပေါ်မှာ တည်တယ်၊ သိပလား”

မင်းသားကလေးအင်ဒရေသည် တီမိုခင်ကို လှမ်း ကြည့်လိုက်၏။ တီမိုခင်သည် ၎င်း၏တပ်မှူး ဗိုလ်မှူးကြီး အင်ဒရေကို နားမလည်နိုင်သကဲ့သို့ ပါးစပ်အဟောင်း သားနှင့် ကြည့်လျက်ရှိသည်။ မင်းသားကလေးအင်ဒရေ သည် ယခင်က စကားနည်းသလောက် ယခု ကရားရေ လွှတ်ပြောလျက်ရှိလေပြီ။ မိမိ၏ရင်ထဲတွင် ကြိတ်မနိုင် ခဲမရဖြစ်နေသမျှကို ယခုမှ အားရပါးရသွန်ချနေသလော မပြောတတ်ချေ။

"ဒီမှာ ရောင်းရင်း၊ တိုက်ပွဲတစ်ပွဲရဲ့ အနိုင်အရှုံး ကို ဆုံးဖြတ်တဲ့အရာဟာ တိုက်ပွဲကို နိုင်အောင် တိုက်မယ် ဆိုတဲ့ သန္နိဋ္ဌာန် ဖြစ်တယ်ခင်ဗျ၊ တိုက်ပွဲကို နိုင်အောင် တိုက်မယ်လို့ သန္နိဋ္ဌာန်ချပြီး တိုက်တဲ့ဘက်ဟာ တိုက်ပွဲ မှာ အနိုင်ရစမြဲပဲ၊ အဲဒါ ခင်ဗျား မှတ်ထား၊ ဩစတားလစ် တိုက်ပွဲမှာ ကျုပ်တို့တစ်တွေ ဘာကြောင့် ရှုံးခဲ့ရသလဲ၊ အဲဒီတိုက်ပွဲမှာ ကျုပ်တို့ အကျအဆုံးများသလို ပြင်သစ် တွေလဲ အကျအဆုံးများခဲ့တာပဲ မဟုတ်ဘူးလား၊ အကျ အဆုံးများတာချင်းအတူတူ ကျုပ်တို့ ဘာကြောင့် ရှုံးခဲ့ သလဲ၊ ရှုံးမှာပေါ့၊ မတိုက်ခင်ကတည်းက ကျုပ်တို့စိတ် ထဲမှာ ရှုံးမယ်ထင်နေတာကိုး ထင်တဲ့အတိုင်းလဲ ခွက်ခွက် လန်အောင် ရှုံးခဲ့တာပဲ၊ ဘာဖြစ်လို့ ရှုံးမယ် ထင်နေကြသလဲ ဆိုတာကော ခင်ဗျား သိချင်သေးသလား၊ ကျုပ်တို့မှာ ဘာယုံကြည်ချက်မှ မရှိဘဲ သူများအတွက် ဝင်တိုက်ပေးခဲ့ ရလို့ခင်ဗျ၊ သိပလား၊ ယုံကြည်မှုမရှိဘဲနဲ့ တိုက်ရတဲ့ စစ်ပွဲ တစ်ပွဲမှာ ရှုံးမယ်လို့ ထင်ခြင်းဟာ ဘာမှ အံ့ဩစရာမရှိဘူး၊ အဲဒီတုန်းက ဘယ်သူမှ စစ်မတိုက်လိုကြဘူး၊ စစ်မြေပြင်မှာ တစ်မိနစ်ကလေး မနေချင်ကြဘူး၊ စစ်မြေပြင်က တတ်နိုင် သမျှ အမြန်ဆုံးထွက်သွားချင်ကြတယ်၊ ဒီလိုယုံကြည်ချက် မရှိဘဲ တိုက်ရမယ့်အခါကျတော့ အကျအဆုံး ရှိလာပြီဆိုရင်ပဲ "တို့တော့ ရှုံးပဟော့၊ ပြေးကြမှပဲ" ဆိုတဲ့ စိတ်တွေ ဝင်လာတာပဲ၊ ဒီစိတ်တွေဝင်လာတာနဲ့ တစ်ပြိုင်နက်ထဲ ပြေးကြတာပဲ၊ တကယ်လို့သာ အဲဒီတုန်းက အဲဒီစိတ်မျိုး တွေ မဝင်ခဲ့ရင် ကျုပ်တို့ နိုင်ကောင်းနိုင်ခဲ့မှာပဲ၊ မဟုတ်ဘူး လား၊

ဒါပေမဲ့ မနက်ဖြန်တိုက်ရမယ့် တိုက်ပွဲမှာတော့ ကျုပ်တို့မှာ ဒီလိုပြေးမယ်ဆိုတဲ့ စိတ်မျိုးတွေ မရှိဘူးခင်ဗျ၊ ကျုပ်တို့မှာ ယုံကြည်ချက်ရှိတယ်၊ သန္နိဋ္ဌာန်ရှိတယ်၊ ခင်ဗျား က ကျုပ်တို့ရဲ့ ခံစစ်ကြောင်း လက်ဝဲတောင်ပံဟာ မလုံဘူး၊ အားနည်းလွန်း တယ်၊ လက်ယာတောင်ပံကျတော့ ကျွံနေ တယ်ဆိုပြီး ကျုပ်တို့ခံစစ်အနေအထား ကို ဝေဖန်သွား တယ်" ။

မင်းသားကလေး အင်ဒရေက ခေတ္တငုံလိုက်၏။ ပြီးမှ ဆက်၍

"ဒါတွေဟာ တကယ်တော့ ဘာမှ အဓိပ္ပာယ်မရှိ ပါဘူးခင်ဗျ၊ ဘာမှ အရေးမ ကြီးဘူး၊ ဒါဖြင့် မနက်ဖြန် တိုက်ပွဲ အလားအလာ ဘယ်လိုရှိသလဲလို့ ခင်ဗျားက မေးကောင်းမေးမယ်၊ ဒါကတော့ အမျိုးမျိုး ဖြစ်နိုင်တယ်။ ရှုံးချင်လဲ ရှုံးမယ်၊ နိုင်ချင် လဲ နိုင်မယ်၊ ဘယ်လိုအဖြေ ထွက်မလဲဆိုတာကတော့ အဲဒီအခိုက်အတန့်မှာ ကျုပ် တို့ လူတွေ ထွက်ပြေးသလား မပြေးဘူးလား၊ သူတို့လူတွေ ထွက်ပြေးသလား မ ပြေးဘူးလားဆိုတဲ့ အချက်ပေါ်မှာတည်  တယ်၊ ကျုပ်တို့လူတွေ အကျအဆုံးများ မများ၊ သူတို့လူ တွေ အကျအဆုံးများ မများဆိုတဲ့ အချက်ပေါ်မှာ တည် တယ်။ ဘယ်သူမှ အပ်ကျတ်ကျ ဟောကိန်းမထုတ်နိုင်ဘူး ခင်ဗျ၊ အဲဒီအခိုက်အတန့် ကလေးမှာ ဖြစ်ပေါ်လာတဲ့ သန်း ရာပေါင်းများစွာသော တိုက်ဆိုင် ဖြစ်ပျက်မှုတွေ ပေါ်မှာ တည်တယ်၊ ဒါပေမဲ့ ခု စစ်ဦးစီးဌာနချုပ်ကလူတွေ လုပ် ကိုင်နေကြပုံ ကတော့ ဘာမှ အဓိပ္ပာယ်မရှိဘူးခင်ဗျ၊ သက် ( သက် ဟန်ရေးပြနေကြတာပဲ၊ ခင်ဗျားနဲ့ တစ်မနက်လုံး ခံစစ်ကြောင်းတစ်လျှောက်ကို လိုက်ကြည့်တဲ့ စစ်ဦးစီး ဌာနချုပ်ကလူတွေဟာ ကျုပ်တို့အဖို့ ဘာအကူအညီမှ မရတဲ့အပြင် အကြီးမားဆုံး သော အနှောင့်အယှက်ကြီး ဖြစ်နေဂယ်ခင်ဗျ၊ ဒီလူတွေဟာ ကိုယ်ရေးကိုယ်တာ အကျိုးစီးပွားလောက်ကိုသာ ကြည့်နေကြတယ်"

"ဒီလောက် အရေးကြီးနေတဲ့ သေရေးရှင်ရေး အချိန်ကြီးမှာတောင် ကိုယ်ကျိုးစီးပွားကြည့်တဲ့လူ ရှိသေး သလားဗျ" ပီယာက အပြစ်တင်သံဖြင့် မေး၏။

"ဟုတ်တယ်ခင်ဗျ၊ ဒီလောက်အရေးကြီးတဲ့ သေ ရေးရှင်ရေးအချိန်ကြီးမှာကို ပဲ ဒီလူတွေဟာ ကိုယ်ရေးကိုယ် တာလောက်ကို ကြည့်ရှုကြတယ်၊ သူတို့အဖို့တော့ ဒီအချိန် ဟာ ကိုယ်နဲ့ ရာထူးလုဘက်၊ ကိုယ်နဲ့ ပြိုင်ဘက်ကို ခွက် စောင်းခုတ်ပစ်ခဲ့ပြီး ရင်ဘတ်ပေါ်မှာ နောက်ထပ်ရွှေတံဆိပ် တစ်ခုချိတ်နိုင်အောင်လုပ်ဖို့ အင်မတန်ကြုံခဲတဲ့ မင်္ဂလာ အချိန်ကြီးခင်ဗျ၊ ကျုပ်ကတော့ မနက်ဖြန်တိုက်ပွဲကို ဒီလို မြင်တယ်၊ တပ်သားပေါင်း တစ်သိန်းရှိတဲ့ ရုရှားစစ်တပ် ကြီးနဲ့ တပ်သားပေါင်းတစ်သိန်းရှိတဲ့ ပြင်သစ်စစ်တပ်ကြီး ဟာ သူပြုတ် ကိုယ်ပြုတ်ချကြဖို့ စောင်နေကြပြီ၊ တစ်နည်း ပြောရရင် လူပေါင်းနှစ်သိန်းဟာ တစ်ယောက်ကို တစ် ယောက် မလွှဲမရှောင်သာသတ်ဖို့ စောင်နေကြပြီ၊ ရက်ရက် စက်စက် မိုက်မိုက်ကန်းကန်း သတ်နိုင်တဲ့ဘက်၊ အသေ အပျောက်နည်းတဲ့ဘက်ဟာ အနိုင်ရတဲ့ဘက် ဖြစ်တော့ မယ်၊ ဒီတော့ ခင်ဗျား ယုံချင်ယုံ၊ မယုံချင်နေ ကျုပ် ပြော မယ်၊ ကျုပ်တို့ဘက်ဟာ မနက်ဖြန်မှာ မိုက်မိုက်ကန်းကန်း ရက်ရက်စက်စက်သတ်ဖို့ သန္နိဋ္ဌာန်ချထားကြပြီ၊ ဒါကြောင့် ခင်ဗျားတို့ စစ်ဦးစီးဌာနချုပ်က လူတွေ ဘာလုပ်နေနေ မနက်ဖြန်မှာ ကျုပ်တို့ နိုင်ရမယ်၊ ဘာကြီးပဲဖြစ်နေနေ ကျုပ်တို့ အောင်ပွဲရရမယ်၊ မနက်ဖြန်ဟာ ကျုပ်တို့နေ့"

"ဟုတ်တယ်၊ ကိုယ်တော်လေးပြောတာ မှန်တယ်" တီမိုခင်က ဝင်ပြော၏။ "ခုအချိန်မှာ တုံးတိုက်တိုက်၊ ကမ်းတိုက်တိုက် ချရမယ်၊ ကျွန်တော့်တပ်ရင်းက ရဲဘော် တွေဆိုရင် မနက်ဖြန် တိုက်ပွဲနိုင်မှ အရက်သောက်မယ်ဆို ပြီး ရှိတဲ့အရက်ကလေးတွေကို မသောက်ဘဲ ချန်ထားကြ တယ်"

အားလုံး တိတ်ဆိတ်သွားကြ၏။

တပ်ဗိုလ်များသည် ပြန်ရန် ထလိုက်ကြသည်။ မင်းသားကလေး အင်ဒရေသည် တပ်ဗိုလ်များကို တဲပြင် ရောက်အောင်လိုက်ပို့ရင်း ညွှန်ကြားချက်များ ပေးလျက် ရှိ၏။ ၎င်းတို့ပြန်သွားပြီးသည့်နောက် ပီယာသည် မင်းသား ကလေး အင်ဒရေထံလျှောက်လာကာ စကားဆက်ရန် ဟန် ပြင်လိုက်သည်။ ထိုအခိုက် တဲနှင့် မလှမ်းမကမ်းမှ မြင်းခွာ သံများကို ကြားရလေသည်။ မင်းသားကလေးအင်ဒရေသည် မြင်းခွာသံလာရာသို့ လှမ်းကြည့်လိုက်ရာ မြင်းကိုယ်စီ စီးလာကြသော ဂျာမန် ဗိုလ်ချုပ်ကြီးများဖြစ်သည့် ဝေါဇို ဂျင် နှင့် ကလော့ဇဝစ်တို့ကို မြင်လိုက်ရ၏။ ၎င်းတို့နောက် မှလည်း ကော့ဆက်မြင်းတပ်သားတစ်ယောက် မြင်းစီး လျက်လိုက်ပါလာလေသည်။ ၎င်းတို့သည် တဲအနီးမှ ဖြတ်စီးကာ ဂျာမန်လို ပြောဆိုလာကြ၏။ ၎င်းတို့စကား များကို တင်းကုပ်ထဲမှ ကြားနေရလေသည်။

"ကျုပ်အမြင်ကတော့ စစ်နယ်ပယ်ဝှန်းကို သည်ထက် တိုးချဲ့ ပေးသင့်တယ်လို့ မြင်သဗျ၊ ရုရှား ဗိုလ်ချုပ်များရဲ့ အယူအဆကိုတော့ လက်မခံနိုင်ပေဘူး" တစ်ယောက်၏ အသံ ဖြစ်၏။

"ဟုတ်လိုက်လေဗျာ၊ ကျုပ်တို့ရဲ့ ရည်ရွယ်ချက်က ရန်သူကို အားနည်းအောင်လုပ်ဖို့ ဖြစ်တယ်ဗျ၊ ဒီတော့ တစ်ဦးချင်း တစ်ယောက်ချင်းရဲ့ ထိခိုက်နစ်နာမှုလေးတွေ ကို ထည့်စဉ်းစားနေလို့ မဖြစ်ပေဘူးဗျ"

"မှန်လိုက်လေဗျာ" တစ်ယောက်က ထောက်ခံ ပြန်၏။

မင်းသားကလေးအင်ဒရေသည် တဲအနီးမှ ဖြတ်စီး သွားသော ဂျာမန် ဗိုလ်ချုပ်ကြီးများကို လှမ်းကြည့်ရာမှ နှာခေါင်းရှုံ့လိုက်သည်။

"ဟင်း စစ်နယ်ဝှန်းကို တိုးချဲ့ရမယ်တဲ့၊ သင်းတို့ တိုးချဲ့တဲ့စစ်နယ်ထဲမှာ ကျုပ်ခမည်းတော်ကြီးရော၊ သား  တော်ရော၊ အစ်မတော်ရော တောင်ကတုံးပိုင်စားနယ်ကြီး ရော ပါသွားပြီလေ၊ တယ်ကောင်း၊ ခင်ဗျားတို့ ဗိုလ်ချုပ် ဘာကလေက လဲ ဒီလိုလူစားပါပဲဗျ၊ ကျုပ် ပြောချင်တာ အဲဒါပဲဗျ၊ ဒီမှာ ရောင်းရင်း၊ ဒီဂျာမန်ကောင်တွေ တိုက် လို့ကတော့ မနက်ဖြန်တိုက်ပွဲမှာ ကျုပ်တို့မနိုင်ဘူး၊ စိတ်ချ။ ဒီကောင်တွေဝင်ရှုပ်လို့ ပိုတောင်ဆိုးဦးမယ်၊ ဒီဂျာမန် ကောင်တွေရဲ့ ဦးနှောက်ထဲမှာ ကြက်ဥခွံလောက်မှ တန်ဖိုး မရှိတဲ့ တရားသေ သဘောတရားတွေကလွဲပြီး တခြား ဘာမှမရှိဘူး၊ ဒီကောင်တွေရဲ့ အည်းနှလုံးထဲမှာလဲ ကျုပ်တို့ တီမိုခင်တို့ အသည်းနှလုံးထဲမှာရှိတဲ့ စိတ်ဓာတ်မျိုး တစ်စက် ကလေးမရှိဘူး၊ ဥရောပတိုက်ကြီးတစ်တိုက်လုံးကို နပို လီယန်လက်ထဲ ထိုးအပ်ပြီး ကျုပ်တို့ကို ဆရာလာလုပ်နေတယ်လေ၊ တယ်တော်တဲ့ဆရာတွေပဲခင်ဗျ"

မင်းသားကလေး အင်ဒရေ၏အသံသည် ကျယ် လာပြန်၏။

"နေပါဦးဗျ၊ ခင်ဗျားကကော မနက်ဖြန်တိုက်ပွဲမှာ ကျွန်တော်တို့ နိုင်မယ်လို့ ထင်သလား" ပီယာက မေး၏။

"နိုင်ရမယ်၊ ဘာလို့ မနိုင်ရမှာလဲ" မင်းသား ကလေး အင်ဒရေက လွှတ်ခနဲ ပြောလိုက်၏။ "ဒါပေမဲ့ ကျုပ်မှာ အာဏာရှိရင် ကျုပ်လုပ်ချင်တာ တစ်ခုတော့ ရှိတယ်ဗျ"

မင်းသားကလေး အင်ဒရေက ဆက်ပြောသည်။

"ကျုပ်သာဆိုရင် သုံ့ပန်း မထားဘူး၊ ဘာဖြစ်လို့ သုံ့ပန်းထားနေကြသေးသလဲ၊ သုံ့ပန်းထားခြင်းဟာ သဘော ထားကြီးဟန် ဆောင်နေခြင်းသာဖြစ်တယ်ဗျ၊ လိမ်နေကြ ခြင်းသာဖြစ်တယ်၊ ပြင်သစ်တွေဟာ ကျုပ်အိမ်ကို ဖျက် ဆီးခဲ့တယ်၊ ခု

လဲ မော်စကိုမြို့ကြီးကို ဖျက်ဆီးကြဦးမှာ ပဲ၊ ဒီကောင်တွေဟာ အရင်တုန်းကလဲ ကျုပ်ကို စော်ကား ခဲ့ကြတယ်၊ ခုလဲ စော်ကားနေကြတယ်၊ ဒီတော့ ဒီကောင် တွေ ဟာ ကျုပ် ရန်သူတွေပဲဗျ၊ အားလုံး ရာဇဝတ်ကောင် တွေချည်းပဲ၊ ဒီထင်မြင်ချက် ဟာ ကျုပ်တစ်ယောက်တည်း ရဲ့ ထင်မြင်ချက် မဟုတ်ဘူး၊ တီမိုခင်နဲ့ တကွ တပ်မတော် ကြီးတစ်ခုလုံးရဲ့ ထင်မြင်ချက်ပဲ ခင်ဗျ၊ ဒီတော့ ရန်သူကို ရန်သူလို တုံ့ပြန်ရမယ်၊ ရာဇဝတ်ကောင်ကို ရာဇဝတ်ကောင် လို ဆက်ဆံရမယ်၊ ဖမ်းမိရင်လဲ သုံ့ပန်းအဖြစ် ထမင်း မထားနိုင်ဘူး၊ သတ်ပစ်ရမယ်၊ သူတို့ ရှင်ဘုရင်အချင်း  ချင်း တစ်လဆစ်မှာ ဘယ်လိုပဲ သဘောတူညီချက်တွေ လုပ်ခဲ့ လုပ်ခဲ့၊ ကျုပ်တို့ နားမ လည်ဘူး၊ ရန်သူဟာ ရန်သူ ပဲ၊ မိတ်ဆွေ မဖြစ်နိုင်ဘူး”

“ဟုတ်တယ် ဟုတ်တယ်၊ ကျွန်တော် သဘောတူ တယ်” ပီယာက မင်းသား ကလေး အင်ဒရေကို တောက်ပ သောမျက်လုံးများဖြင့်ကြည့်၍ ပြော၏။

ဤစကားများကို ကြားလိုက်သည်၌ မိုဇဟော့ရွာမှ ထွက်လာကတည်းက တစ်နေ့လုံး မိမိ၏ဦးနှောက်ကို တီးခေါက်လျက်ရှိခဲ့သော ပြဿနာကြီးသည် ပြေလည် ရှင်းလင်းသွားခဲ့လေပြီ။ စစ်ပွဲကြီးနှင့် နက်ဖြန်တွင် ကြုံ တွေ့ရအံ့သော တိုက်ပွဲကြီး၏အရေးပါပုံနှင့် အနက် အဓိပ္ပာယ်ကို ပီယာ ပြက်ပြက်ထင်ထင် မြင်ခဲ့ လေပြီ။ ယနေ့တစ်နေ့လုံး မြင်တွေ့ခဲ့ရသည့် အခြင်းအရာများ၊ လမ်းတစ်လျှောက် တွင် တွေ့ခဲ့ရသော တပ်ဗိုလ်တပ်သား များ၏မျက်နှာများပေါ်မှ လေးနက်ခက်ထန် သော အမူ အရာများ၏ အနက်အဓိပ္ပာယ်ကို ပီယာ ကောင်းစွာသိခဲ့ လေပြီ။ မိမိ တွေ့ခဲ့ရသော တပ်ဗိုလ် တပ်သားများ၏ရင်ထဲ တွင် ကိန်းဝပ်လျက်ရှိသည့် ဇာတိမာန်စိတ်ဓာတ်တည်း ဟူသော (ရူပဗေဒစကားဖြင့်ပြောရလျှင်) “ငုပ်လျှိုး အပူ”ကို ပီယာ နားလည်ခဲ့လေပြီ။ ဤ “ငုပ်လျှိုးအပူ'ကြောင့်ပင် တပ်ဗိုလ် တပ်သားများသည် ၎င်းတို့အသက်ကို စွန့်လွှတ် ရန် စိတ်ထက်သန်နေခြင်း ဖြစ်ကြောင်းကို ပီယာ သဘော ပေါက်ခဲ့လေပြီ။

မင်းသားကလေးအင်ဒရေကား စကားကို အမျှင် မပြတ်ပြောလျက်ရှိ၏။

"သို့ပန်းတွေ ဘာတွေ ထားမနေကြပါနဲ့၊ ဒီလို သာ တစ်ဖက်နဲ့ တစ်ဖက် သို့ပန်းတွေထားနေကြမယ်ဆို ရင် စစ်ရဲ့ ရက်စက်ကြမ်းကြုတ်တဲ့သဘောဟာ လေးနက် ခြင်းမရှိတော့ဘဲ ဖြစ်သွားလိမ့်မယ်ခင်ဗျ၊ စစ်ဟာ ကြောက် စရာအဖြစ်ကြီးတစ်ခု၊ ရက်စက်ကြမ်းကြုတ်တဲ့အဖြစ်ကြီး တစ်ခုလို့ လူတွေက မယူဆကြတော့ဘဲ ခပ်ပေါ့ပေါ့ သဘောထားလာကြပြီး စစ်တိုက်တမ်းကစားလာကြလိမ့်မယ်၊ ကြည့်လေ ခုပဲ ကျုပ်တို့ စစ်တိုက်တမ်း ကစားနေ ကြပြီ မဟုတ်လား၊ ထစ်ခနဲရှိ ထတိုက်လိုက်ကြ၊ တော်တော် ကြာ မင်းနှစ်ပါးဆုံပြီး ပြေငြိမ်းရေးလုပ်လိုက်ကြနဲ့ စစ် တိုက်တမ်းကစားနေကြတာပဲ မဟုတ်ဘူးလား၊ ဘယ်  လောက် စက်ဆုပ်ဖို့ ကောင်းသလဲ၊ ဒါတွင်မကဘူး၊ တစ် ယောက်နဲ့ တစ်ယောက် သဘောထားကြီးဟန်ဆောင်တမ်း ကစားကြသေးတယ် ခင်ဗျ၊ တစ်ယောက်ကို တစ်ယောက် တော့ သတ်နေကြပြီး ဖမ်းမိတဲ့အခါကျတော့မှ သို့ပန်း အဖြစ် ပြုစုစောင့်ရှောက်ခြင်းမျိုးက ဘာအဓိပ္ပာယ်ရှိသလဲဗျ။ ဒီလို သဘောထားကြီးခြင်းမျိုး၊ ဒီလို ယဉ်ကျေးသိမ်မွေ့ ခြင်းမျိုးကတော့ နွားသတ်တာကို မြင်လို့ မူးမေ့လဲကျသွားတဲ့ နန်းတွင်းသူတွေရဲ့ ယဉ်ကျေးသိမ်မွေ့ခြင်းမျိုးသာ ဖြစ်တယ် ခင်ဗျ။ နန်းတွင်းသူ မမဖုရားများဟာ အင်မတန် သိမ်မွေ့၊ အင်မတန် ကရုဏာဓာတ်ကြီးမားတဲ့အတွက် သွေးသံရဲရဲကို မမြင်ဝံ့ကြပေမယ့် အမဲဟင်းလျာအဖြစ် ဖွယ်ဖွယ်ရာရာ ချက်ပြုတ်ကျွေးတော့ အမိန့်သား ပွဲတော် တည်ကြတယ်ခင်ဗျ၊ ဒီတော့ တစ်ယောက်နဲ့ တစ်ယောက် ရက်ရက်စက်စက် အသေသတ်ကြပြီး မသေတဲ့အခါကျမှ သို့ပန်းအဖြစ် ပြုစုတဲ့ ကျုပ်တို့ရဲ့ မဟာကရုဏာဟာလဲ အမဲသားစားပြီး နွားကိုသနားတဲ့ မဟာကရုဏာမျိုးပဲ မဟုတ်ဘူးလား၊ ဘယ်မှာ အဓိပ္ပာယ်ရှိသေးသလဲ၊ တချို့က ပြောကြသေးတယ်၊ စစ်ပွဲတို့၏ စည်းကမ်းဥပဒေများကို

လိုက်နာခြင်း၊ ရန်သူ့ အပေါ်၌ သဘောထားကြီးခြင်း၊ စစ်ရပ်စဲရေးအလံ လွှင့်ထူလာတဲ့ရန်သူကို ကြိုဆိုခြင်း၊ အားနည်းသူကို ကြင်နာခြင်းစတဲ့အရည်အချင်းများဟာ စစ်သားကောင်းတို့ရဲ့ အရည်အချင်းတွေလို့ ဆိုကြသေး တယ်၊ ဒါတွေကတော့ ဘာအဓိပ္ပာယ်ရှိသလဲ၊ ခေါင်းဖြတ် ပြီးမှ ဆံပင်နှမြောလှချည်ရဲ့ ဆိုလို ဘာအဓိပ္ပာယ် ရှိသေး သလဲ၊ ဘာမှ အဓိပ္ပာယ်မရှိဘူးခင်ဗျ၊ လိမ်ညာနေကြ ခြင်းသာဖြစ်တယ်ဗျ၊ ရောင်းရင်း စဉ်းစားကြည့်စမ်းပါ၊ အကြီးဆုံးသော ရာဇဝတ်မှုဖြစ်တဲ့ လူသတ်မှုကိုကျူးလွန် [ ပါပြီဆိုတဲ့နောက်မှာတော့ စည်းကမ်းဥပဒေရယ်လို့ ထားနေရဦးမှာလား၊ ဘာလဲ မင်းတို့တစ်တွေ လူသတ်ချင် သတ်ကြ၊ ဒါပေမဲ့ ဥပဒေဘောင်ထဲက သတ်ကြလို့ပြော တာနဲ့ ဘာထူးသေးသလဲ၊ ဒီမှာ ရောင်းရင်း၊ အဲဒီလိုသဘောထားကြီးမှုတွေ၊ စစ်ရပ်စဲရေး စည်းကမ်းတွေကို ၁၈၇၅-ခုနှစ်စစ်ပွဲတုန်းက မြင်ခဲ့ဖူးပြီခင်ဗျ၊ ဘာမှအဓိပ္ပာယ် မရှိဘူး၊ သူ့ ကိုယ်လိမ်၊ ကိုယ့် သူလိမ်နဲ့ အပြန်ပြန်အလှန်လှန်လိမ်နေကြခြင်းသာ ဖြစ်တယ်ဗျ၊ ဒီကောင်တွေ ဟာ သူတစ်ပါးပစ္စည်းကို လုတယ်၊ ငွေစက္ကူတုတွေ လုပ်  တယ်၊ ဒါတွင် မကဘူး၊ ကျုပ်ခမည်းတော်ကြီးနဲ့ ကျုပ်သား သမီးတွေကိုလဲ သတ်ခဲ့သေးတယ်၊ သူတို့က ဒီမျှလောက် ကြီးလေးတဲ့ ရာဇဝတ်မှုကြီးတွေကို ကျူးလွန်နေပါရက်နဲ့ ရန်သူကို သဘောထားကြီးခြင်း၊ စစ်ပွဲ၏စည်းကမ်းဥပဒေ ကို လိုက်နာခြင်းစတဲ့ ကိစ္စတွေကို ဘာကြောင့် ပြောဆိုနေကြဦးမှာလဲ၊ ဘာဖြစ်လို့ သဘောထားကြီးရမှာလဲ၊ ဒီမှာ ရောင်းရင်း၊ ရာဇဝတ်ကောင်လို ဆက်ဆံရမယ်ဗျ၊ ဟန် မဆောင်ကြပါနဲ့၊ မလိမ်ကြပါနဲ့၊ သုံ့ပန်းတွေ ဘာတွေ ထားမနေပါနဲ့၊ ရန်သူကိုဖမ်းမိရင် သတ်ပါ၊ ကိုယ့်အလှည့် ရောက်တော့လဲ ရဲရဲကြီးအသတ်ခံပါ၊ ကျုပ်လို ခံစားခဲ့ ကြရရင် ခင်ဗျားတို့လဲ ဒီလိုမြင်ကြမှာပဲ၊ ဒီတော့"

မင်းသားကလေး အင်ဒရေးသည် လည်ချောင်းထဲ တွင် တစ်ဆို့လာသဖြင့် စကားကို ဖြတ်လိုက်၏။ ၎င်း အဖို့ကား ရုရှားမြေပေါ်သို့ ရန်သူ ခြေတစ်ဖက် လှမ်း

ခြင်း သည် ကျူးကျော်စော်ကားခြင်းဖြစ်သည်ဟု အခိုင်အမာ ယူဆပြီးဖြစ်၏။ မော်စကိုကျခြင်း၊ မကျခြင်းသည် ပဓာန မဟုတ်ချေ။ မင်းသားကလေး အင်ဒရေသည် တိတ်ဆိတ် စွာ ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်လျက်ရှိ၏။ သို့ရာ တွင် စကားဆက်လိုက်သည်နှင့် ၎င်း၏မျက်လုံးများသည် တဖျတ်ဖျတ်တောက်လာကြ ကာ နှုတ်ခမ်းများသည်လည်း တရွရွတုန်လာခဲ့ကြလေပြီ။

"ကျုပ်ထင်တယ်၊ စစ်တိုက်တဲ့နေရာမှာ ဒီလို သဘောထားကြီးဟန်ဆောင်မှု တွေ မရှိရင် လူတွေဟာ တော်တော့်ကိစ္စကြောင့်တော့ စစ်တိုက်ကြမှာ မဟုတ် တော့ ဘူးခင်ဗျ။ ခုလို တကယ် အသေခံသင့်ခံထိုက်တဲ့ ကိစ္စ မျိုးတွေ ပေါ်လာကြ တော့မှပဲ စစ်တိုက်ဖြစ်ကြတော့မှာပဲ။ ဒီလို ရက်ရက်စက်စက်လုပ်ပေးရင် ငဖြူက ငမည်းကို စော်ကားလို့ တိုက်ရတဲ့စစ်မျိုး၊ ငမည်းက ငဖြူကိုစော်ကား လို့ တိုက်ရ တဲ့စစ်မျိုး၊ လူပုဂ္ဂိုလ်တစ်ဦး နှစ်ဦးကြောင့် တိုက်ရတဲ့စစ်မျိုးတွေ ရှိတော့မှာ မဟုတ် ဘူးဗျ။ စစ်ဖြစ်လာ ရင်လည်း ခုလို တကယ်ဖြစ်သင့် ဖြစ်ထိုက်လို့ ဖြစ်လာရတဲ့ စစ် မျိုးပဲရှိတော့မယ် ခင်ဗျ၊ အဲဒီအခါကျရင် စစ်သားတွေ ဟာလဲ တကယ်ခိုင်မာတဲ့ ယုံကြည်ချက်၊ တကယ်ခိုင်မာ တဲ့သန္နိဋ္ဌာန်၊ တကယ်ခိုင်မာတဲ့ စိတ်ဓာတ်နဲ့ တိုက် ကြလိမ့် မယ်၊ ဒီလိုသာ ယုံကြည်ချက်နဲ့ တိုက်ကြစတမ်းဆိုရင် ခင်ဗျား နပိုလီယန် နောက်မှာလဲ စစ်သားတစ်ယောက်မှ  ရှိတော့မှာ မဟုတ်ဘူးဗျ၊ ကျုပ်တို့လဲ ဘုမသိ ဘမသိနဲ့ ဩစတြီးယားနဲ့ ပရပ်ရှားဘက်က အချောင်အသေခံပြီး ဝင်တိုက်ပေးရ တာမျိုး ရှိတော့မှာမဟုတ်ဘူးခင်ဗျ၊ ဒီမှာ ရောင်းရင်း၊ စစ်တိုက်ခြင်းဟာ အပျင်းပြေ ကစားစရာအလုပ် မဟုတ်ဘူးဗျ၊ လူ့ဘဝမှာ စက်ဆုပ်စရာအကောင်းဆုံး၊ ကြောက် စရာအကောင်းဆုံး၊ အမိုက်မဲဆုံးအလုပ်ကြီး ဖြစ် တယ်၊ ဒီအချက်ကို ကျုပ်တို့ လေး လေးနက်နက် သတိပြု ရလိမ့်မယ်၊ စစ်တိုက်တမ်းကစားနေကြလို့ မဖြစ်ဘူး၊ စစ်ပွဲ တစ်ပွဲ တိုက်သင့်မတိုက်သင့်ကိစ္စကို ပေါ့ပေါ့စဉ်းစား ပြီး ဆုံးဖြတ်လို့ မဖြစ်ဘူး၊ အလေးအနက်စဉ်းစားပြီး ဆုံး ဖြတ်ရလိမ့်မယ်၊ တစ်နည်းပြောရရင်

သဘောထားကြီးဟန် ဆောင်ခြင်း၊ သုံ့ပန်းထားခြင်း၊ အပစ်အခတ်ရပ်စဲခြင်း စတဲ့ နည်းတွေနဲ့ တစ်ယောက်ကို တစ်ယောက် လိမ်မနေ ကြပါနဲ့၊ မနေကြပါနဲ့၊ စစ်တိုက်ခြင်းအလုပ်ကို အပျော် ကစားသလို မလုပ်ကြပါနဲ့၊ စစ်ကို စစ်နဲ့တူအောင် လုပ် ကြပါ၊ ခုတော့ ခင်ဗျားကြည့်စမ်း၊ အင်မတန်စက်ဆုပ် စရာကောင်းတဲ့ စစ်တိုက်ခြင်းအလုပ်ဟာ ဘာဖြစ်နေသလဲ။ စစ်တိုက်ခြင်းအလုပ်ဟာ အလုပ်မရှိတဲ့ လူပျင်း လူပေါ် ကြော်တွေရဲ့ အနှစ်သက်ဆုံး အပျင်းပြေကစားနည်းကြီး ( တစ်ခု ဖြစ်နေတယ်၊ အကြီးလေးဆုံး ရာဇဝတ်မှုကြီးဖြစ် တဲ့ လူသတ်မှုကို ကျူးလွန်နေတဲ့ စစ်လူတန်းစားဟာ ဂုဏ် အရှိဆုံး၊ အမြင့်မြတ်ဆုံးလူတန်းစား ဖြစ်နေတယ်၊ ထိ”

မင်းသားကလေး အင်ဒရေက ခေတ္တငုံ၍ ဆက် လိုက်သည်။

“စစ်ဆိုတာ ဘာလဲ၊ စစ်ပရိယာယ်ဆိုတာကကော ဘာလဲ၊ စစ်လူတန်းစားရဲ့ အမူအကျင့်တွေကကော ဘာ တွေလဲ၊ ကျုပ် ဒီလိုဖြေချင်တယ် ရောင်းရင်း၊ စစ်တိုက် ခြင်းဟာ လူသတ်မှုကျူးလွန်ခြင်း ဖြစ်တယ်ခင်ဗျ၊ စစ်ပရိ ယာယ်ဆိုသည် မှာသူလျှိုလုပ်ခြင်း၊ သစ္စာဖောက်ခြင်း၊ အဲဒီ အမှုတွေကို ကျူးလွန်အောင် အားပေး ခြင်း၊ တိုင်းပြည် တစ်ပြည်ကို လုယက်ဖျက်ဆီးခြင်း၊ စစ်တပ်ကို ထောက်ပံ့ ဖို့ တိုင်းသူပြည်သားတွေရဲ့ ပစ္စည်းများကို လုယက် ခိုးယူ ခြင်း၊ လိမ်လည်ခြင်း၊ မဟုတ်မမှန် လုပ်ကြံပြောဆိုခြင်း စတဲ့ အလုပ်တွေကိုခေါ်ခြင်း ဖြစ်တယ်ခင်ဗျ၊ ဒါတွေ အားလုံးကို သေနင်္ဗျူဟာစစ်ပညာလို့ ခေါ်နေကြတာပဲ မဟုတ်ဘူးလား၊ ကောင်းပြီ ဒါဖြင့် စစ်လူတန်းစားရဲ့ အမူအကျင့်တွေကကော ဘာတွေလဲ၊ လွတ်လပ်မှု ကင်းမဲ့ ခြင်း၊ အင်မတန်ကျပ်တည်းတဲ့ စည်းကမ်းဥပဒေအောက် မှာ စက်ရုပ်သဖွယ် နေထိုင်ရခြင်း၊ ပေါ်ကြော့ နေထိုင် ခြင်း၊ အသိဉာဏ်ခေါင်းပါးခြင်း၊ ရက်စက်ကြမ်းကြုတ်ခြင်း၊ အကျင့်စာရိတ္တပျက်ခြင်း၊ အလွန်အကျူး မူးယစ် သောက်စား ခြင်း စတဲ့ အရာတွေပဲ မဟုတ်ဘူးလား၊ ဒါပေမဲ့ ဒီလောက် ပျက်စီး ချင်တိုင်း ပျက်စီး၊ ဆိုးယုတ်ချင်တိုင်း ဆိုးယုတ်နေတဲ့ စစ်လူတန်းစားကို ဘယ်လို

သဘောထားနေကြသလဲ၊ တိုင်းပြည်မှာ ထိပ်တန်းအကျဆုံး၊ ဂုဏ်အရှိဆုံးလူတန်းစား ဆိုပြီး လူတိုင်းက အရိုအသေပေးနေရတယ်ခင်ဗျ။ တရုတ်ဘုရင်တွေကလွဲရင် ကမ္ဘာမှာရှိတဲ့ ဘုရင်ကေရာဇ် တွေကလည်း စစ်သူကြီးဝတ်စုံတွေ ဝတ်ပြီး ဂုဏ်ယူနေကြ တယ်ခင်ဗျ၊ လူအများဆုံးသတ်နိုင်တဲ့လူဟာ အမြင့်ဆုံး သော ဂုဏ်ထူး၊ ဘွဲ့ထူးကြီးတွေကို ရနေတယ်ခင်ဗျ။ ရယ် စရာ မကောင်းဘူးလား ရောင်းရင်း”

“စစ်သားလို့ခေါ်တဲ့လူတွေဟာ တစ်ယောက်ကို တစ်ယောက်သတ်ဖို့ မျက်နှာချင်းဆိုင်ကြတယ်၊ ပြီးတော့ တစ်ယောက်ကို တစ်ယောက်သတ်ကြတယ်၊ ထောင်ပေါင်း များစွာသောလူတွေကို ခြေကျိုးလက်ကျိုး ခြေမဲ့လက်မဲ့ ဒုက္ခိတတွေ ဖြစ်အောင် ခုတ်ကြ၊ ထစ်ကြ၊ ပစ်ကြ၊ ခတ်ကြ တယ်၊ လူတွေ အများကြီးသတ်နိုင်ခဲ့တဲ့အတွက် ကျေးဇူး တော်ချီးမွမ်းပူဇော်ပွဲတွေ လုပ်ကြတယ်၊ တချို့ကျတော့ လူသတ်ခဲ့တဲ့နေရာမှာတောင် အရေအတွက်ကို ပိုပြောပြီး မဟုတ်တဲ့နေရာမှာ ကြွားကြသေးတယ်၊ လူတွေများများ သတ်နိုင်သည်နှင့်အမျှ ရောမအောင်ပွဲကြီး ရတယ်ဆိုပြီး ကြွားကြ ဝါကြသေးတယ်။ ဒါကိုတော့ ကောင်းကင်ဘုံမှာ ရှိတယ်ဆိုတဲ့ ခင်ဗျားတို့ဘုရားသခင် ဘယ်လိုပြောမလဲ”

မင်းသားကလေး အင်ဒရေက စူးရှကျယ်လောင် သောအသံဖြင့် အော်လိုက်သည်။

“ခက်တယ် ရောင်းရင်း၊ ခုတလော ကျုပ်ဟာ လူ့ဘဝကြီးမှာ အသက်ရှင်နေရတာ သိပ်ပင်ပန်းတယ်။ သိပ်စိတ်ဆင်းရဲရတယ်၊ ကျုပ်က သိပ်သိလွန်းနေတယ်။

လောကကြီးမှာ ကောင်းခြင်းနဲ့ ဆိုးခြင်းကို ခွဲခြားပြီးသိလာ ရင် ဒီလူဟာ လောကကြီးနဲ့ အဆင်မပြေတော့ဘူး၊ သိပ် စိတ်ဆင်းရဲရတယ်၊ လောကကြီးမှာ ဘာမှ မသိခြင်းဟာ အကောင်းဆုံးပဲ၊ အေးလေ ကျုပ်နဲ့ ဒီလောကကြီးနဲ့ လမ်းခွဲကြဖို့ သိပ်မဝေးတော့ဘူး ထင်ပါတယ်”

မင်းသားကလေး အင်ဒရေက ဆို၏။

"ကဲ ရောင်းရင်းလဲ အိပ်ချင်နေပြီထင်တယ်၊ ကျုပ် လဲ အိပ်ချိန်ရောက်ပြီခင်ဗျ၊ ရောင်းရင်း ပြန်ပေဦးတော့" မင်းသားကလေး အင်ဒရေက ရုတ်တရက် ပြောလိုက် သည်။

"အို ကိစ္စမရှိပါဘူး၊ ကျွန်တော် မအိပ်ချင်ပါဘူး" ပီယာက ထိတ်လန့်ကြင်နာသော မျက်လုံးများဖြင့် မင်းသား ကလေးအင်ဒရေကို ကြည့်၍ ပြောလိုက်သည်။

"ခင်ဗျား မအိပ်ချင်ပေမယ့် ကျုပ် အိပ်ရလိမ့်မယ် ခင်ဗျ၊ စစ်သားဆိုတာ တိုက်ပွဲတစ်ပွဲမတိုက်ခင်မှာ ကောင်း ကောင်းအိပ်ရတယ်" ။

မင်းသားကလေးအင်ဒရေသည် ပီယာထံသို့ ခပ် သုတ်သုတ်ထလာကာ ပွေ့ဖက်နမ်းရှုပ်လိုက်၏။

"ကဲ သွားပေတော့ဗျို့" မင်းသားကလေးအင်ဒရေ က ခပ်ကျယ်ကျယ် နှုတ်ဆက်၏။ "ကျုပ်တို့နှစ်ယောက် နောက်ထပ်တွေ့သည်ဖြစ်စေ၊ မတွေ့ သည်ဖြစ်စေ နှုတ် ဆက်ပြီးသားပဲ"

မင်းသားကလေးအင်ဒရေသည် ချာခနဲ လှည့်ကာ တင်းကုပ်ထဲသို့ ဝင်လာခဲ့သည်။

မှောင်စပျိုးလာပြီ ဖြစ်သဖြင့် မင်းသားကလေး ၊ ( အင်ဒရေ၏မျက်နှာထားသည် ခက်ထန်လျက်ရှိသလော၊ နူးညံ့ချိုသာလျက်ရှိသလောဆိုသည်ကိုမူ ပီယာ သဲကွဲစွာ မမြင်ရချေ။

ပီယာသည် တင်းကုပ်ပြင်ဘက်တွင် ရပ်လျက်ရှိ ရာက တင်းကုပ်ထဲသို့ ပြန်လိုက်သွားရမည်လော၊ ဂေါ်ကီ ရွာသို့ပင် ပြန်ရမည်လောဟု ဝေခွဲမရဖြစ်လျက်

ရှိ၏။

“အင်း မတွေ့ချင်တော့ဘူးထင်ပါရဲ့၊ ငါတို့နှစ် ယောက် နောက်ဆုံးတွေ့ခြင်း များ ဖြစ်လေမလား” ပီယာ သည် သက်ပြင်းချကာ ဂေါ်ကီရွာကလေးသို့ မြင်းဖြင့် ပြန်လာခဲ့သည်။

မင်းသားကလေး အင်ဒရေသည် တင်းကုပ်ထဲသို့ ပြန်ဝင်လာခဲ့ပြီးနောက် အိပ်ရာပေါ်တွင် လှဲချလိုက်မိသည်။ သို့ရာတွင် အိပ်၍မပျော်ချေ။

မင်းသားကလေး အင်ဒရေသည် မျက်လုံးများကို မှိတ်လိုက်၏။ ၎င်း၏စိတ်ကူးထဲ၌ ရုပ်ပုံကားချပ်များသည် တစ်ခုပြီးတစ်ခု အစီအရီပေါ်လာကြ၏။ ယင်းသို့ အစီ အရီပေါ်လာသောရုပ်ပုံကားချပ်များအနက် ကားချပ်တစ်ခုကား ရုတ်တရက်ပျောက်ကွယ်မသွားဘဲ အတန်ကြာမြင် နေရသည်။ ပီတာစဘတ်မြွေမြို့တော်တွင်ရှိစဉ်က တစ်ည ချမ်းကို ထင်ရှားစွာမြင်နေရ၏။ ထိုစဉ်က နာတာရှာသည် မနှစ်နွေရာသီတွင် တောထဲသို့ မှိုသွားရှာခဲ့ပုံ၊ မှိုရှာသွား ရင်း တောထဲတွင် မျက်စိလည်ပုံစသည်တို့ကို ရွှင်လန်း ထက်သန်သောမျက်နှာဖြင့် ပြောပြလျက်ရှိ၏။ တောကြီး မျက်မည်းထဲ၌ စိတ်ချောက်ချားစရာကောင်းပုံ၊ ထိုစဉ်က ၎င်း၏စိတ်ထဲတွင် မည်သို့ခံစားရပုံ၊ ပျားဖွပ်သမားတစ် ယောက်နှင့် တွေ့ပုံတို့ကို စိတ်အားထက်သန်စွာ ပြောပြ လျက် ရှိ၏။ တစ်ချီတစ်ချီ၌လည်း “ဟင့်အင်း အစ်ကို ရယ်၊ နာတာရှာ ပြောမပြတတ်ဘူး၊ အစ်ကို့စိတ်ထဲမှာ မြင်ယောင်လာအောင် နာတာရှာ မပြောတတ်ဘူး” ဟု စိတ်ပျက်အားလျော့သောလေသံဖြင့် ဆိုတတ်သည်။ ထို အခါ၌ မိမိက နာတာရှာကို အားပေးသည့်အနေဖြင့် နာ တာရှာ ပြောပုံမှာ သရုပ်ပါလှကြောင်း၊ နာတာရှာပြောသမျှ ကို နားလည်ကြောင်းဖြင့် ပြောခဲ့သေးသည်။ (ပြောသမျှ ကိုသာမက နာတာရှာရင်ထဲက ပြောလိုသမျှကိုလည်း တကယ်နားလည်ပါသည်။ သို့ရာတွင် နာတာရှာမှာမူ အားမလိုအားမရဖြစ်လျက်

ရှိ၏။ ၎င်း၏စကားများသည် ရင်ထဲတွင် ခံစားနေရသော ခံစားချက်များကို အပြည့်အစုံ ထုတ်ဖော်နိုင်စွမ်းမရှိဟု ယူဆလျက်ရှိသည်။ "ပျားဖွပ် သမားကလေ အဘိုးကြီး အစ်ကိုရဲ့ အသက်တော်တော် ကြီးပြီ သိရဲ့လား၊ ပြီးတော့လေ တောကြီးကလဲ မှောင် ပိန်းနေတာပဲ၊ အဘိုးကြီးကလေ သိပ်သဘောကောင်းတာပဲ၊ ဟင့်အင်း အစ်ကိုရယ်၊ နာတာရှာ ပြောမပြတတ်ဘူး" နာတာရှာက မျက်နှာကလေး နီရဲလျက်က စိတ်အားထက် သန်စွာ ပြော၏။ မင်းသားကလေးအင်ဒရေသည် ထိုစဉ်က နာတာရှာ၏မျက်လုံးများကို ကြည့်ရင်း ရွှင်လန်းစွာ ပြုံးခဲ့ မိသကဲ့သို့ ယခုလည်း ရွှင်လန်းစွာပြုံးလိုက်မိသည်။

"အစ်ကို နားလည်ပါတယ် နာတာရှာ၊ နာတာရှာ ကို အစ်ကို နားလည်ပါတယ်၊ နာတာရှာရဲ့ ရင်ထဲ အသည်း နှလုံးထဲမှာရှိတဲ့ တန်ခိုးစွမ်းပကား၊ နာတာရှာရဲ့ ရိုးသားမှု၊ နာတာရှာရဲ့ ပွင့်လင်းမှုတွေကို အစ်ကို အကုန်နားလည်ပါ တယ်၊ နာတာရှာရဲ့ ခန္ဓာကိုယ်နဲ့ ခွဲလို့မရတဲ့ နာတာရှာရဲ့  ဝိညာဉ်၊ နာတာရှာရဲ့ အဇ္ဈတ္တ သန္တာန်ကို အကုန်နားလည် ပါတယ်၊ ဒီဝိညာဉ်ကလေးကိုပဲ အစ်ကို ချစ်ခဲ့တာပါ"

မင်းသားကလေးအင်ဒရေသည် ဤသို့ တွေးမိ၏။ ဤသို့တွေးရင်းလည်း ၎င်းတို့အချစ်ဇာတ်လမ်း စခန်းသိမ်း ခဲ့ရပုံကိုလည်း အမှတ်ရမိ၏။ .

"ဪ ပီယာ ပီယာ၊ သူ့အဖို့တော့ ဒီလိုအရာ တွေ မလိုတော့ပေဘူး၊ ဒါတွေကို သူ နားမလည်ဘူး၊ သိလဲ မသိ၊ မြင်လဲ မမြင်ဘူး၊ နာတာရှာကို အင်မတန် လှပပြီး အင်မတန်အပြစ်ကင်း လန်းဆန်းတဲ့ မိန်းကလေး တစ်ယောက်အဖြစ်ပဲ ရိုးရိုးသားသား မြင်ခဲ့တယ်၊ ငါသာ တဏှာပေမအချစ်မျိုးနဲ့ ချစ်ခဲ့မိတာ၊ ဟုတ်တယ်၊ ငါဟာ တော်တော်မိုက်တယ်၊ ပီယာကို ကြည့်စမ်း၊ ဘယ်လောက် ပျော်စရာကောင်းသလဲ၊ ပူစရာ မရှိ၊ ဆွေးစရာ မရှိ၊ နာကြည်းစရာ မရှိ၊ ဘယ်လောက်အပူအပင်ကင်းသလဲ"

မင်းသားကလေး အင်ဒရေသည် ဤသို့ တွေးမိရာ မှ မီးစဖြင့် အထိုးခံလိုက်ရသကဲ့သို့ ဖြုန်းခနဲထကာ တဲ ရှေ့တွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်လျက် ရှိပေ သည်။

## အခန်း ၂၆

ဘိုရိုဒီနိုတိုက်ပွဲကြီး မဖြစ်ပွားမီတစ်ရက်ဖြစ်သော ဩဂုတ်လ ၂၅-ရက်နေ့၌ နပိုလီယန်၏ နန်းတော်ဝင်းမှူးကြီး ဒီဗျူး ဆေးနှင့် ဗိုလ်မှူးကြီး ဖေဗီးယားတို့သည် ဗာလူယေဗို ရွာ ကလေးရှိ နပိုလီယန်၏တပ်စခန်းသို့ ရောက်လာခဲ့ကြ လေသည်။ ဝင်းမှူးကြီး ဒီဗျူးဆေးမှာ ပါရီမြို့တော်မှ ရောက်လာခဲ့ခြင်းဖြစ်၍ ဗိုလ်မှူးကြီး ဖေဗီးယားမှာ စပိန် ပြည် မက်ဒရစ်မြို့တော်မှ ရောက်လာခဲ့ခြင်း ဖြစ်လေသည်။

ဝင်းမှူးကြီးအဆောင်အယောင်တို့ ဆင်ယင်ထား သည့် ဒီဗျူးဆေးသည် ဧကရာဇ်ဘုရင် နပိုလီယန်အတွက် ( ပါရီမှ ၎င်းကိုယ်တိုင်ယူဆောင်လာသော လက်ဆောင် သေတ္တာငယ်ကို အယူခိုင်းလိုက်ပြီးနောက် နပိုလီယန်၏ ယာယီတဲနန်း ပထမအဆောင်တွင်းသို့ ဝင်ရောက်လာခဲ့ သည်။ ထိုနောက် မိမိအနီးတွင် ဝိုင်းအုံလျက်ရှိကြသော ` နပိုလီယန်၏ကိုယ်ရံတော်ဗိုလ်များနှင့် အာလာပ သလ္လာပ ပြောဆိုလျက်ရှိရင်း လက်ဆောင်သေတ္တာငယ်ကို ဖွင့်လျက် ရှိ၏။

ဗိုလ်မှူးကြီး ဖေဗီးယားမှာကား ယာယီတဲနန်းတွင်း သို့ ရောက်မလာသေးဘဲ မိမိ၏အသိအကျွမ်း ဗိုလ်ချုပ် ကြီးများနှင့် တဲဝတွင် စကားကောင်းကျန်ရစ်ခဲ့သည်။

ထိုအချိန်၌ ဧကရာဇ်ဘုရင် နပိုလီယန်သည် အိပ် ဆောင်တွင်းမှ ထွက်တော်မူခြင်းမရှိသေးဘဲ ကိုယ်လက် သန့်စင်ခြင်းအမှုကို ပြုလျက်ရှိ၏။ နပိုလီယန်သည်

ပါးစပ် မှ တစ်စုံတစ်ရာကို ခပ်တိုးတိုးမြည်တမ်းကာ နှာတရှူးရှူး မှုတ်လျက်ရှိရင်း လက်ပါးစေတစ်ယောက်က အသားတိုက် ဝက်မင်ဘီးဖြင့် ပွတ်တိုက်ပေးနေခြင်းကို ခံယူလျက်ရှိ၏။ တစ်ခါတစ်ရံ၌လည်း နပိုလီယန်သည် ၎င်း၏ကျောပြင် နှင့် အမွေးအမှင်တို့ ထူထပ်စွာပေါက်လျက်ရှိသော ဖြူဖွေး နူးညံ့သည့်ရင်ဘတ်တို့ကို အလိုက်သင့်လှည့်ပေး၏။ အခြား လက်ပါးစေတစ်ယောက်ကား ပုလင်းကို လက်ညှိုးဖြင့် ပိတ်ကာ နပိုလီယန်၏ အဆီအစ်၍ နူးညံ့သောခန္ဓာကိုယ် ပေါ်ကို ပြင်သစ်ပြည်ထွက် အော်ဒီကလုံးရေမွှေးကို ဆွတ် ဖျန်းလျက်ရှိ၏။ ထို လက်ပါးစေ၏မျက်နှာထားမှာကေရာဇ် ဘုရင် နပိုလီယန်၏ခန္ဓာကိုယ်ပေါ်၌ မည်သည့်နေရာ၊ မည် သည့်အစိတ်အပိုင်းကို ရေမွှေး မည်မျှ ပက်ဖျန်းရမည်ဟု သိသူမှာ ဤကမ္ဘာလောကကြီးတွင် မိမိတစ်ဦးတည်းသာ ရှိသည်ဟူသော အမူအရာကို ဆောင်လျက်ရှိ၏။ နပို လီယန်၏ တိုနှံ့နှံ့ဆံပင်သည် ဆီမွှေး တို့ဖြင့် ရွဲစိုလျက်ရှိ၍ နဖူးပေါ်တွင် ကျစ်ထား၏။ နပိုလီယန်၏မျက်နှာသည် ဖြူရော်ကာ ဖောသွတ်သွတ်ဖြစ်လျက်ရှိသော်လည်း ကျေနပ် နှစ်သိမ့်ခြင်းကို ဖော်ပြလျက်ရှိလေသည်။

"ဟဲ့ ခပ်နာနာကလေး ပွတ်စမ်းလဟု" နပိုလီယန် က ၎င်း၏ကျောပြင်အား ပွတ်သပ်လျက်ရှိသည့် လက်ပါး စေကို ပြော၏။

ယမန်နေ့က တိုက်ပွဲတွင် ဖမ်းဆီးရမိခဲ့သည် ရုရှား သုံ့ပန်းများ၏အရေအတွက်ကို သံတော်ဦးတင်ရန် ရောက် လာသော ကိုယ်ရံတော်ဗိုလ်တစ်ဦးသည် ကိစ္စအဝဝကို လျှောက်တင်ပြီးသော်လည်း ကေရာဇ်ဘုရင်၏အမိန့်မရ သေးသဖြင့် မလှမ်းမကမ်းတွင် ရပ်ခစားလျက် ရှိ၏။ နပို လီယန်သည် ကိုယ်ရံတော်တပ်ဗိုလ်ကို မျက်မှောင်ကုတ် ကြည့်လိုက်သည်။

”သံ့ပန်းမထားနှင့် သင်းတို့အပြုအမူသည် သံ့ပန်း များကို မသတ်သတ်အောင် ပြုနေသကဲ့သို့ ဖြစ်သည်၊ ရုရှား တပ် ဤတစ်ကြိမ်တွင် ပြုတ်ပြုတ်ပြုန်းစေရမည်၊ ဟို မောင်မင်း နာနာပွတ်စမ်းပါလဟို”

နပိုလီယန်က ဤသို့ပြောရင်း အဆီအစ်နေသော ပခုံးကို လှည့်ပေးလိုက်သည်။

“ကောင်းပြီ ဒီဗျူးဆေးနဲ့ ဖေဗီးယားတို့ကို ရှေ့ တော်သွင်းစေ မောင်မင်း” နပိုလီယန်က ကိုယ်ရံတော် ဗိုလ်ကို ခေါင်းညိတ်ပြလိုက်သည်။

““မှန်ပါ့ ဘုရား” ကိုယ်ရံတော်ဗိုလ်သည် ယာယီ တဲနန်းတံခါးဝတွင် ပျောက်ကွယ်သွားလေသည်။

လက်ပါးစေနှစ်ဦးတို့သည် ကေရာဇ်ဘုရင် နပို လီယန်အား ဝတ်လဲတော်များကို လျင်မြန်စွာ ဆင်ယင် ပေးသည်။ နပိုလီယန်သည် ကိုယ်ရံတော် တပ်ဗိုလ်ချုပ်၏ အပြာ၏ရောင်ဝတ်စုံကို ဝတ်ဆင်ကာ မြဲမြဲသွက်လက် သောခြေလှမ်းများဖြင့် ဧည့်ခန်းဆောင်ဘက်ဆီသို့ ထွက် လာခဲ့၏။

ထိုအတောအတွင်း၌ကား ဝင်းမှူးကြီး ဒီဗျူးဆေး မှာ မိဖုရားခေါင်ကြီးက ဆက်သလိုက်သော လက်ဆောင် ပဏ္ဏာမျိုးစုံကို ဧည့်ခန်းဆောင်ရှိ ထိုင်ခုံနှစ်လုံး ပေါ်တွင် တင်၍ခင်းကျင်းရင်း အလုပ်များလုပ်လျက် ရှိ၏။ သို့ရာ တွင် နပိုလီယန်မှာ ဝတ်လဲတော်ဆင်ပြီးသည်နှင့် တစ်ပြိုင် နက် ခြေလှမ်းကျဲကြီးများဖြင့် လျင်မြန်စွာရောက်ရှိလာ သည့်အတွက် ဝင်းမှူးကြီး ဒီဗျူးဆေးမှာ ဘုရင်ကေရာဇ် အား အံ့အားသင့်စေရန် ရည်ရွယ်ချက်ဖြင့် လက်ဆောင် ပဏ္ဏာများ ခင်းကျင်းခြင်း အလုပ်ကို အပြီးမသတ်လိုက် ရချေ။

နပိုလီယန်သည် မိမိအား ဝင်းမှူးကြီး ဒီဗျူးဆေးနှင့် ဗိုလ်မှူးကြီး ဖေဗီးယား တို့က အံ့အားသင့်စေရန် ကြိုတင် စီမံနေကြကြောင်းကို သတိထားမိပြီးဖြစ်ရုံမက အဆင် သင့်မဖြစ်သေးကြောင်းကိုလည်း ရိပ်စားမိလိုက်သည်။ ထို့ကြောင့် နပိုလီ ယန်သည် ရုတ်တရက်လက်ဆောင်ပဏ္ဏာ များဆက်သ၍ မိမိအား အံ့အားသင့်စေ ခြင်းဖြင့် ကြည်နူး လိုသော ၎င်းတို့၏ဆန္ဒကို လိုက်လျောသည့်အနေဖြင့် ဝင်းမှူး ကြီး ဒီဗျူးဆေးကို မမြင်ယောင်ပြုကာ ဗိုလ်မှူးကြီး ဖေဗီးယားကိုသာ ရှေ့တော်သို့ ဆင့်ခေါ်ပြီး ဖေဗီးယား၏  လျှောက်တင်ချက်ကို တင်းမာသောရာဇဗ္ဗနှင့် နား ထောင်လျက်ရှိ၏။ ဗိုလ်မှူးကြီးဖေဗီးယားသည် ဥရောပ တိုက်၏အခြားအစွန်း တစ်ဖက်ဖြစ်သော ဆာလာမန်ကာ ဒေသ၌ ဘုရင်ကေရာဇ်၏တပ်တော်များ မည် မျှ သက်စွန့် ကြိုးပမ်း အမှုတော်ထမ်းကြပုံ၊ မည်မျှ သူရသတ္တိပြောင် မြောက်စွာ အမှုတော်ထမ်းကြပုံတို့ကို လျှောက်တင်လျက် ရှိ၏။ ထိုသို့ လျှောက်တင်လျက်ရှိ သည့် အတောအတွင်း တွင် ဗိုလ်မှူးကြီး ဖေဗီးယား၏စိတ်၌ မိမိ၏လျှောက်တင် ချက်များသည် ဘုန်းတော်ကြီးသော ကေရာဇ်နပိုလီယန် ရွှေနားတော်သို့ တိုက်ရိုက် လျှောက်ကြားလောက်အောင် ကြီးကျယ်ခမ်းနားသော အရေးကိစ္စကြီး တစ်ခုဖြစ်ကြောင်း ပြလိုစိတ်၊ မိမိလျှောက်တင်ချက်ကို ကေရာဇ်ဘုရင် နပို လီယန် အလိုတော်ကျ ဖြစ်ပါမည်လောဟူသော စိုးရိမ်စိတ် တို့သည် ဒွန်တွဲလျက် ရှိကြ၏။ ထိုစစ်ပွဲမှာ ပြင်သစ်တို့အဖို့ အသည်းနာသောစစ်ပွဲ ဖြစ်၏။ နပိုလီယန်သည် ဗိုလ်မှူး ကြီး ဖေဗီးယား လျှောက်တင်နေစဉ်အတောအတွင်း၌ မိမိ ကိုယ်တော် တိုင် ချီတက်တိုက်ခိုက်ခြင်း မရှိကတည်းက ဤသို့အရေးနိမ့်မည်ကို သိပြီးသား ဖြစ်သည် ဟူသော သဘောမျိုးဖြင့် ခပ်လှောင်မှောင် မိန့်ကြားခြင်း ပြု၏။

"အိမ်း ဆာလာမန်ကာမှာ အရေးနိမ့်ရင် မော်စကို ကျတော့ ရင်းစားပြန် ရအောင် လုပ်ရမှာပ၊ က် ဗိုလ်မှူး ကြီး ပင်ပန်းဟန်တူသည်၊ နောင်မှ ခစားဝင်" ဟု ဆိုကာ ဝင်းမှူးကြီး ဒီဗျူးဆေးကို ဆင့်ခေါ်စေသည်။ ထိုအချိန်၌ ကား ဝင်းမှူးကြီး

ဒီဗျူးဆေးမှာ မိဖုရားခေါင်ကြီးက ဆက်သ လိုက်သော လက်ဆောင်ပဏ္ဏာများကို ဧကရာဇ်ဘုရင် အံ့အားသင့်စေရန်အတွက် ထိုင်ဖုံပေါ်တွင်တင်ကာ အဝတ် တစ်ခု ကိုလွှမ်းထားလျက် အဆင်သင့်ခင်းကျင်းပြီး ဖြစ်နေ လေပြီ။

ဝင်းမှူးကြီး ဒီဗျူးဆေးသည် ပြင်သစ်ကာဘွန်း မင်းမျိုးမင်းနွယ်ထံတွင် ခစားဖူးသော နန်းတွင်းသားများ သာပြုလုပ်တတ်သည့် လွန်စွာယဉ်ကျေးသိမ်မွေ့ လှသော ပြင်သစ်ဦးညွှတ်နည်းဖြင့် ဦးညွှတ်ကာ ခပ်ယိုယိုဝင်ရောက် လာ၍ခစားပြီး နောက် စာအိတ်တစ်လုံးကို လှမ်း၍ဆက်သ လေသည်။

နပိုလီယန်သည် ဝင်းမှူးကြီး ဒီဗျူးဆေးဘက်သို့ လှည့်ကာ ဝင်းမှူးကြီး ဒီဗျူးဆေး၏နားရွက်ကိုဆွဲ၍ ကျီ  စယ်လိုက်သည်။

“ငါ့ ကျေးတော်မျိုး ဝင်းမှူးကြီး ခရီးပြင်းနှင်လာ ရဟန် တူသည်၊ ငါ့ကျေး တော်မျိုး ဝင်းမှူးကြီးကို မြင်ရ၍ ဝမ်းသာမိသည်၊ နေပါဦး ပါရီရွှေမြို့တော်တွင် ဘာတွေ ပြောနေကြသနည်း”

နပိုလီယန်သည် တင်းမာသောအသံကို ဖျောက်၍ ရင်းနှီးစွာမေးလိုက်သည်။

“မှန်လှပါ ဘုန်းတော်ကြီးသောဘုရားကိုယ်တော် တိုင်မရှိသည့်အတွက် ပါရီ ရွှေမြို့တော်ကြီးသည် ဝမ်းနည်း လွမ်းဆွတ်လျက် ရှိပါကြောင်းပါ”

ဝင်းမှူးကြီးဒီဗျူးဆေးက အလိုက်အထိုက်လျှောက် တင်လိုက်ခြင်း ပြု၏။

ဝင်းမှူးကြီးဒီဗျူးဆေးသည် ဗောင်းတော်ညိတ် စိတ်တော်သိသူပီပီ ဤ စကားမျိုးမှအပ အခြားလျှောက် တင်ရန်မရှိခြင်းကိုလည်းကောင်း၊ မိမိကိုယ်တော် တိုင်အား ( ပါရီရွှေမြို့တော်ကြီးက လွမ်းဆွတ်တမ်းတလျက်ရှိသည် ဆိုခြင်းမှာ ခေါင်းအေးအေးဖြင့်တွေးလျှင် မည်သည့်နည်းနှင့် မျှ ဖြစ်နိုင်ဖွယ်မရှိသည့်အချက် ကိုလည်းကောင်း နပိုလီယန် သိသော်လည်း ထိုစကားမျိုးကို ဝင်းမှူးကြီး ဒီဗျူး

ဆေးထံမှ ကြားသိလိုက်ရသောအခါ၌ကား ကျေနပ်အားရလျက်ရှိ လေသည်။ ထို့ကြောင့် ဧကရာဇ်ဘုရင် နပိုလီယန်သည် ဝင်းမှူးကြီး ဒီဗျူးဆေးအား နားရွက်ဆွဲ၍ ကျီစယ်ခြင်း ဖြင့် ချီးမြှင့်မြှောက်စားခြင်း ပြုပြန်သည်။

“ငါ့ကျေးတော်မျိုး ဝင်းမှူးကြီးကို ဤမျှဝေးလံသော ဒေသမှ ဆင့်ခေါ်ရသည့်အတွက် ငါကိုယ်တော်မြတ် စိတ် မကောင်းဘူး မောင်မင်း”

“မှန်ပါ ဘုန်းတော်ကြီးသောဘုရားအား မော်စကို မြို့တံခါးဝတွင် ဖူးတွေ့ရသည်ဆိုလျှင် ထိုထက်ဆယ်ပြန် ဝေးသောခရီးက လာဆိုလျှင်လည်း ပြေးလာမည်သာ ဖြစ်ကြောင်းပါ ဘုရား”

နပိုလီယန်က ပြုံးလိုက်ပြီးနောက် မျက်နှာကို မော့ ကာ လက်ယာဘက်သို့ ကြည့်လိုက်သည်။ ကိုယ်ရံတော် ဗိုလ်တစ်ဦးသည် အပြေးရောက်လာကာ ဒူးတုပ်၍ ရွှေ သားဖြင့်ပြုလုပ်သော ရှူဆေးဘူးကို ဆက်၏။ နပိုလီယန် သည် ရွှေရှူဆေးဘူးကို လှမ်းယူလိုက်သည်။ ' “အိမ်း ငါ့ကျေးတော်မျိုး ဝင်းမှူးကြီးကံကောင်း  သည်” နပိုလီယန်က ရှူဆေးဘူးကိုဖွင့်၍ နှာဝသို့ တေ့ ထားလိုက်၏။ “မောင်မင်း ခရီးသွား ဝါသနာပါသည်။ နောင် သုံးရက်အတွင်း မော်စကိုကို မြင်ရတော့မည်။ အရှေ့တိုင်းမြို့တော်ဖြစ်သော မော်စကိုကို မမျှော်လင့်ဘဲ သင် မြင်ရတော့မည်၊ ငါ့ကျေးတော်မျိုးကြီး ဝါသနာ အလျောက် ခရီးသွားရတော့မည်” ။

ဝင်းမှူးကြီး ဒီဗျူးဆေးသည် မိမိခရီးသွား ဝါသနာ ပါကြောင်းကို နပိုလီယန် အရေးတယူထုတ်ဖော်ပြောဆို ခြင်းကြောင့် ပီတိဖြစ်လျက် ကျေးဇူးတင်စွာဖြင့် ခေါင်း ညွှတ်၍ ခစားလိုက်၏။ (မိမိ ခရီးသွားဝါသနာပါကြောင်း ကို နပိုလီယန် ပြောမှပင် ဝင်းမှူးကြီး ဒီဗျူးဆေး သတိ ထားမိပါသည်။)

”အလို မှန်းစမ်း၊ ဘာတွေများလဲ ကျေးတော် မျိုးကြီးရဲ့” နပိုလီယန်က အဝတ်စတစ်ခု ဖုံးထားသည့် အရာကို ဝိုင်းအုံကြည့်နေကြသည့် နန်းတော်သားများ

ကို ကြည့်၍ ပြောလိုက်၏။

ဝင်းမှူးကြီး ဒီဗျူးဆေးသည် နန်းတွင်းသားတို့၏ ကျွမ်းကျင်ဖျတ်လတ်ခြင်း မျိုးဖြင့် ကိုယ်ကို ချာခနဲတစ်ဝက် လှည့်ကာ နပိုလီယန်ကို ခစားရင်း နောက်သို့ ခြေလှမ်း ဆုတ်၍ လာခဲ့ပြီး အဝတ်ဖုံးကို လှန်လိုက်သည်။

"မှန်လှပါ နန်းမတော်ဘုရားက ဆက်သလိုက် သော လက်ဆောင်ပဏ္ဏာပါ ဘုရား"

ထိုလက်ဆောင်ပဏ္ဏာကား နပိုလီယန်နှင့် (ဩ စတြီးယားဘုရင်ကေရာဇ်၏ သမီးတော်) မိဖုရားခေါင်ကြီး တို့မှ မွေးဖွားသော သားတော်လေး၏ပုံတူ ဖြစ်လျက် ပြင်သစ်နန်းတွင်းပန်းချီကျော် ဂျီရတ်က ရေးဆွဲထားခြင်း ဖြစ်၏။ (မည် သည့်အတွက်ကြောင့် မသိ။ ထိုသားတော် ကလေးကို "ရောမနိုင်ငံ၏ ဘုရင်" ဟု လည်း ခေါ်ကြသည်။) ရုပ်ပုံထဲတွင် သားတော်ကလေးမှာ ခရစ်တော် ငယ်စဉ်က ကဲ့သို့ ဆံပင်ကောက်ကလေးနှင့် ချစ်စဖွယ် သူငယ်ကလေးတစ်ယောက်ဖြစ်၍ ဘောလုံးတစ်လုံးကို တုတ်ချောင်းတစ်ချောင်းနှင့် ကစားနေဟန်ဖြစ်၏။ ဘော လုံး မှာ ကမ္ဘာလုံးပုံသဏ္ဍာန်ဖြစ်၍ တုတ်ချောင်းမှာ ရာဇလှံ တံ၏ပုံသဏ္ဍာန် ဖြစ်သည်။ . ။

နန်းတွင်းပန်းချီကျော် ရတ်သည် ကမ္ဘာလုံးကြီး ကို ရာဇလှံတံဖြင့် ကစားနေ ဟန် ရေးဆွဲရာ၌ မည်သည့် ရည်ရွယ်ချက်ဖြင့် ရေးဆွဲခြင်းဖြစ်ကြောင်း မသိရ သော်လည်း (ပါရီရွှေမြို့တော်တစ်မြို့လုံးက ယူဆကြသကဲ့သို့ပင်) နပိုလီယန်ကမူ မိမိသားတော်သည် ကမ္ဘာကြီးကို စိုးမိုးရ မည်ဟူသော အနက်အဓိပ္ပာယ်ပင် ဖြစ်သည်ဟု ယူဆကာ များစွာနှစ်ထောင်းအားရဖြစ်လျက် ရှိလေသည်။

"အိမ်း ရောမနိုင်ငံကြီးရဲ့ ကေရာဇ်လေးပေပဲ၊ တယ် လ် မြတ်နိုးဖွယ်ကောင်းပါကလား၊ ကျေးတော်မျိုးကြီးရဲ့" နပိုလီယန်က ကျက်သရေရှိလှသော ဟန်အမူအရာကို ဆောင်လျက် ရုပ်ပုံကို ညွှန်ပြပြောလိုက်သည်။

ထိုမှ တစ်ဖန် မျက်နှာအမူအရာကို ရုတ်ခြည်း ပြောင်းရာ၌ သဘာဝကျကျ ပြောင်းနိုင်စွမ်းရှိသည့် အီတလီ နွယ်ဖွား နပိုလီယန်သည် ပုံတူကားချပ်အနီးသို့ လျှောက် လာကာ ကြင်နာနူးညံ့သည့်မျက်နှာထားကို ဆောင်ထား လိုက်ပြန်သည်။ ဤအချိန်အတောအတွင်း၌ မိမိပြောမည့် စကားနှင့် တကွ မိမိပြုမည့် အပြုအမူတို့သည် ရာဇဝင် တွင်ကျန်ရစ်ရမည့်စကား၊ ရာဇဝင် တွင်ကျန်ရစ်ရမည့် အပြုအမူမျိုးဖြစ်ရမည်ဟု နပိုလီယန် ယူဆဟန်တူ၏။ ထို့ကြောင့် ဤနေရာတွင် သားတော်အား ကမ္ဘာလုံးကြီးနှင့် ကစား မြူးထူးစေနိုင်လောက်အောင် ဘုန်းတန်ခိုးကြီးမားသည့် မင်းကေရာဇ်၏ ခမ်းနားတင့်တယ်သော အမူအရာ မျိုးကို ပြရန်ထက် သာမန်ဖခင်တစ်ဦးက သားကိုကြည့်၍ ကြည်နူးနေသည့်အမူအရာမျိုးကို ပြကပို၍လေးနက်စေ လိမ့်ဟုကြံကာ မျက်လုံးများမှေး၍ ရှေ့သို့ တိုးလာခဲ့လျက် (မိမိ၏ဘုန်းတော်အလျောက် အလိုအလျောက် ရောက် လာဟန်ရှိသော) ထိုင်ဖို့ကို ငုံ့ကြည့်ပြီးနောက် ထိုင်ချကာ သားတော်၏ရုပ်ပုံလွှာကို ကြီးစွာသော မြတ်နိုးခြင်းဖြင့် ရှုစားလျက်ရှိလေသည်။ အနီးရှိ ကိုယ်ရံတော်အားလုံးတို့ သည်လည်း ကေရာဇ်ဘုရင် နပိုလီယန်၏အရိပ်အခြည်ကို မြင်ကာမျှဖြင့် သဘောကို အလိုလိုနားလည်ရကား ဝိုင်းဝန်း ခစားနေကြရာမှ ကြီးမားသောပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ကြီး နပိုလီယန်အား တစ်ယောက်တည်း လွတ်လပ်စွာတွေးတော ကြည်နူးနေနိုင်စေရန် ခြေဖျားထောက်၍ ထွက်လာခဲ့ကြ သည်။

ကေရာဇ်ဘုရင် နပိုလီယန်သည် ဤသို့ အတန် ကြာမျှထိုင်နေပြီးနောက် သားတော်၏ရုပ်ပုံကားချပ်ပေါ် တွင် အထင်းဆုံးဖြစ်နေသော ဆေးသွားထူထူနေရာကို  လက်ဖြင့် တို့ထိလိုက်ကာ (အဘယ်ကြောင့် ဤသို့ ပြုလုပ် လိုက်မိမှန်း

ကိုမူ နပိုလီယန်ကိုယ်တိုင်ပင် မသိပါ။) ထိုင်ရာမှ ဖြည်းညင်းစွာထ၍ ဝင်းမှူးကြီး ဒီဗျူးဆေးနှင့် တာဝန်ကျ ကိုယ်ရံတော်ကို ဆင့်ခေါ်လိုက်သည်။ ထို့နောက် ယာယီ . စံနန်းကိုစောင့်ရှောက်လျက်ရှိကြသည့် တပ်ဖိုလ် တပ်သား များအား ၎င်း တို့၏ဦးထိပ်ထားအပ်သော ဘုရင်ကေရာဇ် မင်းမြတ်၏အရိုက်အရာကို ဆက်ခံမည့်သားတော်အား ဖူးမြော်ခွင့်ရစေရန်အတွက် ရုပ်ပုံကားချပ်ကို ယာယီတဲနန်း အပြင်သို့ ယူဆောင်သွားရန် အမိန့်ပေးလိုက်သည်။

နပိုလီယန်သည် ရွှေနန်းတော်ဝင်းမှူးကြီး ဒီဗျူး ဆေးအား ချီးမြှင့်မြှောက်စားသောအားဖြင့် မိမိနှင့် အတူ နံနက်စာ စားသုံးစေလျက်ရှိသည့် အတောအတွင်း၌ကား မိမိမျှော်လင့်ထားသကဲ့သို့ပင် ရုပ်ပုံကားကို လာရောက်ဖူးမြော်နေကြသည့် ကိုယ်ရံတော် တပ်ဖိုလ် တပ်သားများ ၏ဝမ်းသာအားရ ကြွေးကြော်ဟစ်အော်နေသံများကို ကြား ရလေသည်။

“ဘုန်းတော်ကြီးသော ဘုရင်ကေရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည်ပါစေ၊ ရောမနိုင်ငံ၏ ကေရာဇ် ဘုရင်လေး သက်တော်ရာကျော် ရှည်ပါစေ၊ ဘုန်းတော် ကြီးသော ကေရာဇ်မင်းမြတ် သက်တော်ရာကျော် ရှည် ပါစေ”

နံနက်စာ ပွဲတော်တည်ပြီးသည့်အခါ၌ နပိုလီယန် သည် ဝင်းမှူးကြီးဒီဗျူးဆေး၏ရှေ့၌ပင် တပ်တွင်းအမိန့် တော်ပြန်တမ်းကို နှုတ်မှ ရွတ်ပြကာ တပ်ရေး တစ်ယောက် အား လိုက်လံရေးစေသည်။ ' ထိုနောက် နပိုလီယန်သည် တပ်တွင်း အမိန့်တော် ပြန်တမ်းကို ပြန်ဖတ်စေ၏။ ပြင်ဆင်ချက် တစ်စုံတစ်ရာ မပါဘဲ မိမိ နှုတ်မှ ဆက်တိုက်ရွတ်ပြသွားသော ပြန်တမ်း ကို ပြန်၍ ကြားနာခြင်း ပြု၏။

“အိမ်း တိုတိုတုတ်တုတ်နဲ့ တယ်ပြီး ခွန်အားရှိတဲ့ စာပေပဲ” ဟု နပိုလီယန်က မိန့်တော်မူ၏။ အမိန့်တော် ပြန်တမ်းမှာ အောက်ပါအတိုင်းဖြစ်လေသည်။

"တပ်ပါ၊ ဗိုလ်၊ စစ်ကဲ၊ နာခံ၊ တပ်မှူး အမိန့် တော်၊ ဤတိုက်ပွဲသည် သင်တို့ အားလုံး မျှော်လင့် စောင့်စားလျက်ရှိသောတိုက်ပွဲကြီး ဖြစ်သည်။ ဤ တိုက်ပွဲ အောင်ပွဲရ မရမှာ သင်တို့အပေါ်တွင် တည်  သည်။ ဤတိုက်ပွဲ၌ ငါတို့ပွဲလမ်းရရန် အရေးကြီး သည်။ ဤတိုက်ပွဲနိုင်က သူရဲ၊ သူခက်၊ ရဲမက်၊ ဗိုလ်ပါတို့ ချမ်းသာစွာ နေထိုင်ကြရ၍ နေပြည် တော်သို့ အမြန် ပြန်ရောက်ကြမည်။ ဩစတား လစ်၊ ဖရီလင်း၊ ဗီတက်နှင့် စမိုးလင့်တိုက်ပွဲများ၌ နှလုံးမကွဲ တစ်စိတ်တစ်ဝမ်းတည်း အသက်ဦး လည်း မငဲ့မကွက် ရဲရဲဝံ့ဝံ့ စွန့်စွန့်စားစား ထမ်း ရွက်၍ တစ်ဖက်ရန်ကို အောင်မြင်ခဲ့သည့်နည်းတူ ယခုပွဲ၌လည်း အရေးတော်ရအောင် ကြိုးပမ်းကြရ မည်။ ဤတိုက်ပွဲ၌ သင်တို့အရေးတော် အောင်ခဲ့ ခြင်းကို သင်တို့ သား၊ မြေး၊ မြစ် တို့ ဂုဏ်ယူ ဝင့်ကြွားနိုင်အောင် ကြိုးစားကြရမည်။ "ငါတို့ ဘိုး၊ ငါတို့ဖကား မော်စကို ရှေ့ပြေးတိုက်ပွဲတွင် ပါဝင် ခဲ့သသူ" ဟု နှောင်းလူတို့ ပြောစမှတ်ပြုခြင်းခံရ အောင် သက်စွန့်ကြိုးပမ်း အမှုတော်ထမ်းရွက်နိုင် ကြစေ၊ အမိန့်တော်။

နပိုလီယန်သည် နောက်ဆုံးစကားလုံးကို ထပ်၍ ရွတ်ကာ ခရီးသွား ဝါသနာထုံသည်ဆိုသော ဝင်းမှူးကြီး . ဒီဗျူးဆေးအား မိမိနှင့်အတူ မြင်းစီးလိုက်ပါ ရန်ခေါ်ပြီး နောက် ယာယီတဲနန်းမှ ထွက်၍ မြင်းများ အဆင်သင့်ပြင် ထားရာသို့ လာခဲ့သည်။

""မှန်ပါ ဘုန်းတော်ကြီးသောဘုရား၊ ကြင်နာ သနားတော်မူခြင်းကြောင့် လိုက်ပါရန် အဆင်သင့်ရှိ ကြောင်းပါ"

ဝင်းမှူးကြီးဒီဗျူးဆေးက လျှောက်တင်ခြင်းပြု၏။ အမှန်၌ကား ဝင်းမှူးကြီး ဒီဗျူးဆေးသည် ခရီးပန်း၍ အိပ် ချင်လှပေပြီ။ ထို့ပြင်မက မြင်းစီးတတ်သူလည်း မဟုတ် သည့်အလျောက် မြင်းစီးရမည်ကိုကြောက်လျက်ရှိလေပြီ။

သို့ရာတွင် နပိုလီယန်က ခေါင်းညိတ်ပြသည်၌ ဝင်းမှူးကြီး ဒီဗျူးဆေးမှာ မနေသာတော့ဘဲ မြင်းပေါ်သို့ မရဲတရဲ တက်လိုက်လေသည်။ ယာယီတဲနန်းမှ နပိုလီယန် ထွက်တော်မူသောအခါ၌ သားတော် “ရောမကေရာဇ် ဘုရင် ကလေး” ၏ရုပ်ပုံရှေ့တွင် ဟစ်အော်လျက်ရှိသော ကိုယ်ရံ တော်တပ်သားများ၏ ကြွေးကြော်သံများသည် ပို၍ကျယ် လောင်လာကြ၏။ နပိုလီယန်သည်' မျက်မှောင်ကုတ်၍ လွန်စွာတင့်တယ်သောအမူအရာကို ဖြစ်စေလျက် လက်ညှိုး အုပ်တိုက် ညွှန်တော်မူကာ

”သားတော်၏ရုပ်ပုံကို တခြား ယူသွားကြစမ်း ကွယ်ရို့၊ တခြားကို ယူသွား ကြစမ်း၊ သားတော်လေး၏ အရွယ်သည် စစ်မြေကို မြင်ကောင်းတဲ့အရွယ် မဟုတ် သေး” ဟု မိန့်တော်မူ၏။

ဝင်းမှူးကြီး ဒီဗျူးဆေးသည် မျက်လုံးများကိုမှိတ် ၍ ဦးညွတ်လိုက်ပြီး နောက် သက်ပြင်းကြီးတစ်ချက် ချ လိုက်သည်။ ထိုအမူအရာကား ဝင်းမှူးကြီး ဒီဗျူးဆေး သည် ကေရာဇ်ဘုရင် နပိုလီယန်၏စကားများအဓိပ္ပာယ်ကို အလေး အနက်သဘောပေါက်နားလည်၍ အလွန်အမင်း တန်ဖိုးထားကြောင်းကို ပြသ လိုက်သည့်အမူအရာဖြစ်ချေ သည်တမုံ့။

# အခန်း ၂၅

“ဩဂုတ်လ ၂၅-ရက်နေ့၌ နပိုလီယန်သည် မြင်းတစ်စီးဖြင့် နယ်မြေ အနေအထားကို လှည့်လည်စစ်ဆေးခြင်း၊ စစ်သူ ကြီးများ တင်ပြသော စစ်ဆင်ရေး စီမံကိန်းများကို စဉ်းစား ဆွေးနွေးခြင်း၊ ဗိုလ်ချုပ်များအား ကိုယ်တိုင်ကွပ်ကဲ ကြပ် မတ်၍ အမိန့်ပေးခြင်းဖြင့် တစ်နေ့လုံး အချိန်ကို ကုန်လွန် စေ၏” ဟု ၎င်း၏ရာဇဝင်ဆရာများက ရေးသားခဲ့ကြ လေသည်။

ဩဂုတ်လ ၂၄-ရက်နေ့၌ ရန်သူ ပြင်သစ်များက ရှီဗာဒီနိုခံတပ်ကို သိမ်းပိုက်လိုက်ကြသည့်အတွက် ကိုလို ချာ မြစ်ရိုးအတိုင်း မူလက စွဲထားခဲ့သော ရုရှားခံစစ်ကြောင်း မှာ ရွှေ့သွားခဲ့လေပြီ။ ထိုခံစစ်ကြောင်း၏ လက်ဝဲတောင်ပံ ကိုလည်း ရုပ်သိမ်းခဲ့ရလေပြီ။ ရုရှားခံစစ်ကြောင်း၏ လက်ဝဲ တောင်ပံသည် ကတုတ်ကျင်းများဖြင့် အခိုင်အမာ တည် ဆောက်ခြင်း မရှိခဲ့ရုံမျှမက ထိုနေရာတစ်ဝိုက်၌ မြေပြင်အနေအထားသည်လည်း အခြားသော နေရာများကဲ့သို့ ကုန်းမြင့်ကမူ၊ တောင်ငူ တောင်စွယ်စသည့် အကွယ်အကာ ဟူ၍ မရှိလှဘဲ ဟင်းလင်းပွင့်လျက်ရှိသော မြေပြန့်လွင် ပြင်ကြီးများဖြစ်လျက်ရှိခြင်းကြောင့် ပြင်သစ်တို့အဖို့ ထို နေရာကို ပထမဆုံး စတင်တိုက်ခိုက်ရမည်သာ ဖြစ်သည်။ ဤအချက်မှာ စစ်ရေးစစ်ရာကို နားလည်သည်ဖြစ်စေ၊ နားမလည်သည်ဖြစ်စေ လူတိုင်းနားလည်နိုင်သောအချက် ဖြစ်သည်။ ဤအချက်ကို ရေးကြီးခွင့်ကျယ် စဉ်းစားနေဖို့ မလိုချေ။ ဘုရင်ဧကရာဇ်နှင့် စစ်သူကြီးများကိုယ်တိုင် အပတ်တကုတ်အားထုတ် စဉ်းစားနေဖို့လည်း မလိုချေ။ နပိုလီယန်တွင်ရှိသည်ဟု ပြောဆိုလျက် ရှိကြသည့် ဘုန်း တန်ခိုးပါရမီခေါ်သော အထူးကြီးကျယ်သည့် ဉာဏ်ပညာ ဖြင့် ဆင်ခြင်တိုင်းထွာနေဖို့လည်း မလိုချေ။ သို့သော်လည်း နောင်သောအခါတွင် ဤအဖြစ်အပျက်ကို ရေးသားကြ သည့် ရာဇဝင်ဆရာများ၊ နပိုလီယန်၏အပါးတွင် ခစား လျက်ရှိသူများနှင့်တကွ နပိုလီယန်ကိုယ်တိုင်မှာမူကား ဤမျှလွယ်ကူသောအချက်ကို မမြင်နိုင်ကြရှာဘဲ ရေးကြီးခွင့်ကျယ်လုပ်၍ စဉ်းစားခဲ့ကြပေသည်။

နပိုလီယန်သည် မြင်းတစ်စီးဖြင့် လွင်ပြင်တစ်ဝိုက် တွင်လှည့်ပတ်၍ လွန်စွာအရေးကြီးဟန်ကို ဆောင်လျက် နယ်မြေအနေအထားကို စစ်ဆေးကြည့်ရှုခြင်း ပြုခဲ့၏။ တစ်ခါတစ်ခါ၌ များစွာနှစ်ခြိုက်သဘောကျဟန်ဖြင့် ခေါင်း တဆတ်ဆတ်ညိတ်၍ တစ်ကြိမ် တစ်ကြိမ်တွင်လည်း သံသယရှိဟန်ဖြင့် ခေါင်းကိုဖြည်းညင်းစွာ ယမ်းကာ မိမိ၏ စိတ်ကူးများကို အပါးတွင် ခစားလိုက်ပါလာကြသော ဗိုလ်ချုပ်

ကြီးများနှင့် တိုင်ပင်ဆွေးနွေးခြင်းမရှိဘဲ မိမိဘာသာ စဉ်းစားဝေဖန်၍ မိမိသဘော ဖြင့် အမိန့်များကို ချမှတ် ခဲ့သည်။ မင်းသားကြီး အက်ကမူဟု အမည်တွင်လျက်ရှိသော စစ်သူကြီးဒါဗောက်က ရုရှားခံစစ်ကြောင်း လက်ဝဲ တောင်ပံအား ဝင်တိုက်ရန် အကြံပေးခြင်းကို နပိုလီယန် သည် အကျိုးအကြောင်းတစ်စုံတစ်ရာ ရှင်းလင်းပြောဆို ခြင်း မရှိဘဲ ပယ်ချလိုက်သည်။ (ရုရှားကတုတ်ကျင်းများကို ( တိုက်ရန် တာဝန်ကျသည့်) ဗိုလ်ချုပ်ကြီးကင်ပန်က မိမိ၏ တပ်မအား တောအုပ်ထဲမှ ဖြတ်၍ ချီတက်စေသင့်သည် ဟူသော အကြံပေးချက်ကိုမူ နပိုလီယန်က သဘောတူလိုက်သည်။ မြို့စားကြီး အယ်ချင်ဂျင်းဟု ကိုယ့်ကိုယ်ကို ကင်ပွန်းတပ်ထားသော ပြင်သစ်ဗိုလ်ချုပ်နေးက ဤသို့ တောအုပ်ထဲမှ ချီတက်လှုပ်ရှားခြင်းမှာ များစွာ အန္တရာယ် များသည့်ပြင် အခန့်မသင့်က စစ်ပျက်စေနိုင်ကြောင်းဖြင့် မဝံ့တလံ ကန့်ကွက်ပြောဆိုချက်ကို ပယ်ချလိုက်သည်။

ဤသို့ဖြင့် နပိုလီယန်သည် ရှီဗာဒီနိုခံတပ်နှင့် မျက်နှာချင်းဆိုင်ဖြစ်သော နယ်မြေအနေအထားကို စစ်ဆေး ကြည့်ရှုပြီးနောက် အတန်ကြာမျှ တိတ်ဆိတ် စဉ်းစားလျက်  ရှိသည်။ ထိုနောက် နက်ဖြန်တွင် ရုရှားကတုတ်ကျင်း မားကို တိုက်ခိုက်ရန်အတွက် ပြင်သစ်အမြောက်တပ်စု ခံစု တပ်စွဲထားရမည့်နေရာများ နှင့် ထိုအမြောက်တပ်စု များနှင့် တစ်တန်းတည်းတွင်ပင် မြေပြင်ပစ်အမြောက် မြတပူတပ်များ တပ်စွဲထားရမည့်နေရာများကို ညွှန်ပြခြင်း ပြုလေသည်။

ဤသို့ ကိုယ်တိုင် ကြပ်မတ်ကွပ်ကဲကာ စစ်အခင်း အကျင်းတို့ကို စီရင်ပြီး နောက် နပိုလီယန်သည် ယာယီ တဲနန်းသို့ ပြန်လာခဲ့ကာ နက်ဖြန်တိုက်ပွဲအတွက် စစ်အင်္ဂါ စဉ်ကို ပါးစပ်မှ ရွတ်ပြ၍ တပ်ရေးတစ်ယောက်ကို ရေးမှတ် ယူစေသည်။

နပိုလီယန်ထုတ်ပြန်သည့် စစ်အင်္ဂါစဉ်ကို ပြင်သစ် ရာဇဝင်ဆရာများက ကြီးကျယ်ခမ်းနားစွာ ဖော်ပြကြ၍ အခြားရာဇဝင်ဆရာများကလည်း အရေးတယူ

ဖော်ပြကြ သည်။ ထိုစစ်အင်္ဂါစဉ်မှာ အောက်ပါအတိုင်း ဖြစ်၏။

*နောက်ထပ်ရောက်လာသည့် အမြောက်တပ်စု နှစ်စုသည် မင်းသားကြီးအက်ကမူး သိမ်းပိုက် ထားသည့် မြေပြန့်လွင်ပြင်တွင် ညဦး ပိုင်းကတည်း က နေရာယူ တပ်စွဲပြီးသား ဖြစ်နေစေရမည်။ နောက် တစ်နေ့ အရုဏ်တက်အချိန်၌ ထိုအမြောက် တပ်စုများက မျက်နှာချင်းဆိုင် ရှိ ရန်သူ အမြောက် တပ်စုနှစ်စုကို စတင်ပစ်ခတ်ရမည်။*

*ဤအတောအတွင်းတွင် အမှတ်-၁ တပ်ဖွဲ့ မြေပြင်ပစ် အမြောက်တပ်၊ တပ်မှူး ဗိုလ်ချုပ်ပါနုက် တီက ဗိုလ်ချုပ်ကင်ပန်၏ တပ်မ ကြီးမှ အမြောက် မြတပူ အလက်သုံးဆယ်၊ ဗိုလ်ချုပ် ဒက်ဆေးနှင့် ဗိုလ်ချုပ် ဖရိုင်းယန့်၏ တပ်မကြီးများမှ ဖုံးပစ် အမြောက်တိုများအားလုံး နှင့် အတူ ရှေ့သို့ ချီတက် ပစ်ခတ်၍ ရန်သူအမြောက်တပ်စုများကို အမြောက် ဆန်များဖြင့် မိုးသီးမိုးပေါက်ပမာ ကြဲလွှတ်ရမည်။ ထိုအချိန်၌*

*ကိုယ်ရံတော် မြေပြင်ပစ်အမြောက်တပ်မှ အမြောက်မြတပူ ၂၄*

*ဗိုလ်ချုပ် ကင်ပန်၏ တပ်မမှ အမြောက် မြတပူ ၃၀*

*ဗိုလ်ချုပ် ဖရိုင်းယန့်နှင့် ဗိုလ်ချုပ်ဒက်ဆေးတို့၏ တပ်မများမှ အမြောက်မြတပူ ၈*

*စုစုပေါင်း အမြောက်မြတပူကြီး ၆၂-လက် တို့ကလည်း တစ်ပြိုင်နက် ပစ်ခတ်နေရမည်။*

*အမှတ်-၃တပ်ဖွဲ့ နှင့် အမှတ်-၈တပ်ဖွဲ့များမှ ဖုံးပစ်အမြောက်တို စုစုပေါင်း တစ်ဆယ့်ခြောက် လက်ကို ရန်သူလက်ဝဲတောင်ပံရှိ ကတုတ်ကျင်း များကို ပစ်ခတ်နေသည့် အမြောက်တပ်စု၏ဝဲယာ*

တစ်ဖက်တစ်ချက်၌ အမှတ်-၃တပ်ဖွဲ့၏ တပ်မှူး ဗိုလ်ချုပ်ဖိုချိုက နေရာချထားရမည်။ ဤသို့ဖြင့် ရန်သူလက်ဝဲတောင်ပံကို ထိုနေရာမှ အမြောက်မြတပူ အလက်ပေါင်းလေးဆယ်ဖြင့် တရစပ် ပစ်ခတ်ရမည်။

ထိုအတောအတွင်း ကိုယ်ရံတော် မြေပြင်ပစ် အမြောက်တပ်မှ ဖုံးပစ်အမြောက်တို့များနှင့်အတူ အမိန့်ရလျှင် ရချင်း ရန်သူ့ ကတုတ်ကျင်းများကို ချီတက် တိုက်ခိုက်စေရန် ဗိုလ်ချုပ်ဆိုဘီးယားက အဆင်သင့်ရှိစေရမည်။

ဤသို့ အမြောက်မြတပူများဖြင့် တရစပ် ပစ်ခတ်နေသည့် အတောအတွင်း၌ မင်းသားကြီး ပိုနီယာတိုစကီက တောထဲမှဖြတ်၍ ဘိုရိုဒီနိုရွာသို့ ချီတက်ကာ ရန်သူ၏ခံစစ်ကြောင်းကို ချိုးဖောက် ပစ်ရမည်။

ဗိုလ်ချုပ်ကင်ပန်ကလည်း တောအုပ်ထဲမှ ဖြတ် ၍ - ရန်သူ၏အပြင်ခံတပ်ကို သိမ်းပိုက်ရမည်။

ဤသို့ ချီတက်တိုက်ခိုက်ပြီးနောက် ရန်သူ၏ လှုပ်ရှားမှုကို မှီ၍ နောက်ထပ်အမိန့်များ ထုတ်ပြန် မည်။

'လက်ယာတောင်ပံမှ အမြောက်ကြီးများ ပစ် ခတ်သံကို ကြားရသည်နှင့်တစ်ပြိုင်နက် လက်ဝဲ တောင်ပံရှိ အမြောက်မြတပူများက စတင်ပစ်ခတ် ရမည်။ လက်ယာတောင်ပံမှ ရန်သူကို စ၍ ထိုးစစ် ပြုသည်နှင့် တစ်ချက်တည်း ဗိုလ်ချုပ် မိုရန်း၏ တပ်မကြီးမှ လက်ဖြောင့်တပ်သားများနှင့် ဗိုလ်ချုပ် မူးရတ်၏ တပ်မကြီးက အမြောက် မြတပူများ ပြင်းထန်စွာ ပစ်ခတ်ပေးရမည်။

*ဗိုလ်ချုပ်မှူးရတ်က တံတားသုံးခုကို ကျော်ဖြတ် ၍ ဘိုရိုဒီနိုရွာကို သိမ်းပိုက်ကာ ဗိုလ်ချုပ်မိုရန်းနှင့် ဗိုလ်ချုပ်ဂျီးရတ်၏ တပ်မကြီးများနှင့် ရင်ပေါင် တန်းလျက် တောင်ကမူဘက်ဆီသို့ ချီတက်ရမည်။ ထိုနေရာတွင် တပ်အားလုံးသည် ဗိုလ်ချုပ် မူရတ် ၏ ကွပ်ကဲမှုဖြင့် ရန်သူခံတပ်ကို ဝင်ရောက်တိုက် ခိုက်ပြီးနောက် ကျန်တပ်များအားလုံးနှင့် တစ်ပြေး တည်း ရှိစေရမည်။*

*တပ်ကူများအရန်သင့်ထား၍ အထက်ပါအင်္ဂါ စဉ်အတိုင်း အုပ်စီးမပျက်ကွပ်ကွပ်ညှပ်ညှပ် ဆောင် ရွက်ရမည်။ အမိန့်တော်။*

*မိုဇယ္ကာအနီး ယာယီစံနန်းတော်။*

၁၈၁၂-ခုနှစ်၊ သြဂုတ်လ ၂၅-ရက်၊ နေ့စွဲ။ မည်မျှရှုပ်ထွေး၍ မည်မျှ ရေရာခြင်းမရှိသော စစ် အင်္ဂါစဉ်ပေနည်း။ နပိုလီယန်သည် စစ်ဆင် စစ်တက်ခြင်း အရာ၌ ဘုန်းကံပါရမီ ထူးချွန်သူဖြစ်သည်ဟူသော အစွဲ အလမ်းကို ချွတ်ခွာ၍ ကြည့်လိုက်ပါက ဖော်ပြပါ နပို လီယန်၏ စစ်အင်္ဂါစဉ်သည် ရေရာခြင်းမရှိရုံမျှမက ရှုပ်ထွေးလျက် ရှိခြင်းကိုတွေ့ရမည်ဖြစ်၏။ ဖော်ပြပါ စစ်အင်္ဂါ စဉ်၌ အရေးကြီးသော အချက်ကြီး လေးချက်နှင့် နပိုလီယန် ၏အမိန့်ကြီး လေးရပ်ပါရှိ၏။ သို့ရာတွင် ထို အမိန့်ကြီး လေးရပ်သည် တစ်ခုမျှ လက်တွေ့ဆောင်ရွက်၍ ရနိုင် သောအရာများ မဟုတ်ကြချေ။ တစ်ခုမျှလည်း အကောင် အထည် မပေါ်ခဲ့ကြချေ။

စစ်အင်္ဂါစဉ် ပထမအမိန့်၌ နပိုလီယန်ကိုယ်တိုင် ရွေးချယ်ပေးသည့်နေရာတွင် တပ်စွဲထားသော အမြောက် တပ်စုများသည် ၎င်းတို့နှင့် တစ်ပြေးတည်း နေရာယူထား သည့် ဗိုလ်ချုပ်ပါနက်တီနှင့် ဗိုလ်ချုပ်ဖိုချီတို့၏ တပ်မကြီး များမှ အမြောက်များအပါအဝင် စုစုပေါင်းအမြောက်မြတပူ အလက်ပေါင်း ၁၀၂-လက်ဖြင့် စတင်ပစ်ခတ်ကာ ရုရှား ခံတပ်များ၊ မြေကတုတ်များကို ပေါက်ပေါက်ကြ

သကဲ့သို့ ကျည်ဆန်များဖြင့် ကြံလွှတ်ရမည်ဟု ပါရှိသည်။ နပို လီယန် ရွေးချယ်ပေးသည့်နေရာမှသာ ပစ်ရမည်ဆိုလျှင် ထိုအမြောက်ဆန်များသည် ရုရှားခံစစ်ကြောင်းထဲသို့ မရောက်သဖြင့် မည်သည့်နည်းနှင့်မျှ လက်တွေ့ဆောင်ရွက် ၍ မဖြစ်ချေ။ တိုက်ပွဲဖြစ်ပွားသောအခါတွင် ထိုအမြောက် ကြီး ၁၀၂-လက်တို့သည် နပိုလီယန် ရွေးချယ်ပေးသည့် နေရာမှ ပစ်ခတ်ကြရာ ရုရှားခံစစ်ကြောင်းထဲသို့ မရောက်ဘဲ လေထဲတွင်သာ တဝုန်းဝုန်းပေါက်ကွဲလျက် ရှိခြင်းကြောင့် အနီးရှိ တပ်မှူးတစ်ဦးက နပိုလီယန်၏ညွှန်ကြားချက်ကို ဆန့်ကျင်ကာ ရှေ့သို့တက်၍ပစ်ရန် အမိန့်ပေးခြင်း ပြုရ သည်။ ထိုတွင်မှ အမြောက်ကျည်များ ရုရှားခံစစ်ကြောင်းထဲသို့ ကျလာကြသည်။ ဤသည်ကို ထောက်ခြင်းအား ဖြင့် နပိုလီယန်၏စစ်အင်္ဂါစဉ်သည် ဘာမျှ အသုံးမဝင် ကြောင်း ထင်ရှားသည်။

စစ်အင်္ဂါစဉ် ဒုတိယအမိန့်၌လည်း ဗိုလ်ချုပ် ပိုနီ ယာတိုစကီက တောအုပ်ထဲမှ ဖြတ်၍ ရွာဆီသို့ ချီတက် ကာ ရန်သူ၏လက်ဝဲတောင်ပံကို ချိုးပစ်မည်ဟု ပါရှိသည်။ ဗိုလ်ချုပ်ပိုနီယာတိုစကီသည် ဤအမိန့်အတိုင်း တောအုပ်ထဲမှဖြတ်၍ ရွာဆီသို့ ချီတက်လာခဲ့ရာ လမ်းတွင် ရုရှားဗိုလ်ချုပ် တူချ်ကော့ဗ်၏ တပ်များက ကြားဖြတ် တိုက် ခိုက်ကြသောကြောင့် ထိုအမိန့်ကို အကောင်အထည်လည်း မဖော်နိုင်ခဲ့ချေ။ အကောင်အထည်လည်း မပေါ်ခဲ့ချေ။

ထိုကြောင့် ရုရှားခံစစ်ကြောင်း၏လက်ဝဲတောင်ပံ ကို မချိုးဖောက်နိုင်ခဲ့ချေ။ မချိုးလည်း မချိုးဖောက်ခဲ့ချေ။

စစ်အင်္ဂါစဉ် တတိယအမိန့်၌ ဗိုလ်ချုပ်ကင်ပန်က တောအုပ်ထဲမှ ဖြတ်သန်းချီတက်၍ ရန်သူ၏အပြင်ခံတပ် ကို သိမ်းပိုက်ရမည်ဟု ပါရှိသည်။ လက်တွေ့၌ကား ဗိုလ်ချုပ်ကင်ပန်၏တပ်မကြီးသည် တောအုပ်မှ လွင်ပြင် ( သို့ ထွက်လာသည်နှင့်တစ်ပြိုင်နက် နပိုလီယန်သတိမထား ခဲ့မိသော ရုရှား

ကိုးလုံးကျည်အမြောက်များ၏တရကြမ်း ပစ်ခတ်မှုကြောင့် ရုရှားအပြင်ခံတပ်ကို မသိမ်းနိုင်ရုံမျှမက တပ်ပျက်၍ ဆုတ်ခွာလာခဲ့ရသည်။

' စစ်အင်္ဂါစဉ် စတုတ္ထအမိန့်၌ ဗိုလ်ချုပ်မူးရတ်က တံတားသုံးခုကို ကျော်ဖြတ်၍ ဘိုရိုဒီနိုရွာကို သိမ်းပိုက် ပြီးလျှင် ဗိုလ်ချုပ် မိုရန်းနှင့် ဗိုလ်ချုပ် ဂျီရတ်တို့၏ တပ်မံ ကြီးများနှင့် (နပိုလီယန်သည် ထိုတပ်မကြီးများ၏ လှုပ် ရှားမှုနှင့် စပ်လျဉ်း၍ကား မည်သည့်အမိန့်ကိုမျှ မပေးခဲ့ချေ။) ရင်ပေါင်တန်းလျက် တောင်ကမူဘက်သို့ ချီတက်ရမည်။ ထိုနေရာ၌ တပ်အားလုံးသည် ဗိုလ်ချုပ် မူရတ်၏ ကွပ်ကဲ မှုဖြင့် ရန်သူခံတပ်ကို ဝင်ရောက်တိုက်ခိုက်ပြီးနောက် အခြားတပ်များ အားလုံးနှင့် တစ်ပြေးတည်းရှိနေစေရမည်ဟု ပါရှိသည်။

စစ်အင်္ဂါစဉ်တွင်ပါသည့် ဤစာပိုဒ်သည် ဘာမျှ အဓိပ္ပာယ် မရှိချေ။ ထိုအမိန့်အတိုင်း ဆောင်ရွက်သည့် ဗိုလ်ချုပ် မူရတ်၏ ကြိုးပမ်းချက်များမှာလည်း ဘာမျှ အဓိပ္ပာယ်မရှိ။ လက်ခွဏာမှာ နပိုလီယန်သည် မူးရတ်အား ဘိုရိုဒီရွာကို ဖြတ်၍ ရုရှားခံတပ်ကို လက်ဝဲဘက်မှ ဝင် ရောက်တိုက်ခိုက်ရန်နှင့် တစ်ချက်တည်းမှာပင် ဗိုလ်ချုပ် မုရန်းနှင့် ဗိုလ်ချုပ် ဂျီးရတ်တို့၏ တပ်မကြီးများကလည်း ရှေ့မှ ဝင်ရောက်၍ တပ်ထိပ်ကို တိုက်စေချင်ပုံ ရသည်။ သို့ရာတွင် နပိုလီယန်၏ စစ်အင်္ဂါစဉ်တွင်ပါဝင်သည့် စာပိုဒ် များကား ဘာမျှ ရှင်းရှင်းလင်းလင်း မရှိချေ။

သို့ဖြင့် စစ်အင်္ဂါစဉ်တွင်ပါသော အခြားအမိန့် များကဲ့သို့ ထိုအမိန့်သည်လည်း လက်တွေ့ဆောင်ရွက်၍ မဖြစ်နိုင်ချေ။ လက်တွေ့လည်း ဆောင်ရွက်ချိန် မရလိုက်ချေ။ ဗိုလ်ချုပ် မူးရတ်သည် အမိန့်အတိုင်း ဘိုရိုဒီနို ရွာကို ဖြတ်၍ ချီတက်လာခဲ့သော်လည်း ရုရှားတပ်များက ဆီးကြို ခုခံတိုက်ခိုက်ကြသည့်အတွက် ကိုလိုချာမြစ်ကမ်း သို့ ဆုတ်ခွာခဲ့ရကာ ထိုနေရာမှ ရှေ့သို့ ချီတက်နိုင်ခြင်း မရှိတော့ချေ။ ဗိုလ်ချုပ် မိုရန်းနှင့် ဗိုလ်ချုပ်ဂျီးရတ်တို့၏ တပ်များမှာလည်း ခံတပ်ကို သိမ်းပိုက်

နိုင်ခြင်းမရှိရုံမျှမက ရုရှားတပ်၏ တွန်းလှန်တိုက်ခိုက်မှုကြောင့် တပ်ရွှေ့လာခဲ့ ကြရလေသည်။ စစ်ပွဲပြီးမှ ပြင်သစ်မြင်းတပ်တစ်တပ်က ခံတပ်ကို သိမ်းပိုက်နိုင်ခြင်းဖြစ်သည်။ (မြင်းတပ်က ခံ တပ်စခန်းအား သိမ်းပိုက်ခြင်းကို နပိုလီယန် မြင်ဖူးဟန်လည်း မရှိ၊ ကြားဖူးဟန်လည်း မတူပါ။) ဤသို့ဖြင့် စစ်အင်္ဂါစဉ်တွင် ပါဝင်သည့် အမိန့်များအနက် မည်သည့် အမိန့်မျှ အကောင်အထည် မပေါ်ခဲ့ကြချေ။ ထိုအမိန့်များ သည် အကောင်အထည်ဖော်၍ရသော အမိန့်များလည်း မဟုတ်ကြချေ။ စစ်အင်္ဂါစဉ်တွင် ဤအစီအစဉ်အရ တိုက်ပွဲ စတင်ပြီးနောက် ရန်သူ၏လှုပ်ရှားမှုကို မှီ၍ နောက်ထပ် အမိန့်များထုတ်မည်ဟု ဖော်ပြထားပေသေးရာ ဤသည်ကို ထောက်၍ နပိုလီယန်သည် လိုအပ်သောအစီအစဉ်များ အားလုံးကို တိုက်ပွဲဖြစ်ပွားနေစဉ် ၎င်းကိုယ်တိုင်ပြုလုပ် ပေးရန် ရည်ရွယ်ဟန် လက္ခဏာရှိ၏။ သို့ရာတွင် နပို လီယန်သည် တိုက်ပွဲဖြစ်ပွားစဉ်တွင် တိုက်ပွဲ၏အခြေအနေ ကို သိနိုင်ခြင်းမရှိလောက်အောင် ဝေးလံသည့်နေရာတွင်  ရောက်ရှိနေခဲ့လေပြီ။ ထိုအစီအစဉ်များကို ၎င်းကိုယ်တိုင် ဆောင်ရွက်ခြင်း မပြုခဲ့တော့ပြီ။ ပြုလည်း မပြုနိုင်တော့ပြီ။ သို့ဖြင့် တိုက်ပွဲအတွင်းတွင် နပိုလီယန်၏အမိန့်များအား လုံးသည် သဲထဲရေသွန် ဖြစ်ခဲ့ရလေပြီ။

## အခန်း ၂၈

ဘိုရိုဒီနိုတိုက်ပွဲ၌ ပြင်သစ်တို့ ရှုံးရခြင်းမှာ နပိုလီယန် အအေးမိနေခြင်းကြောင့်ဖြစ်သည်ဟု များစွာသော ရာဇဝင် ဆရာတို့က ရေးသားခဲ့ကြသည်။ အကယ်၍သာ နပိုလီယန် တွင် အအေးမိခြင်းမရှိခဲ့လျှင် တိုက်ပွဲမဖြစ်ပွားမီနှင့် တိုက်ပွဲ အတွင်း ထုတ်ပြန်ခဲ့သော နပိုလီယန်၏အမိန့်များသည် ၎င်း၏ဘုန်းတန်ခိုး ပါရမီ ဉာဏ်အဟုန်ဖြင့် သည့်ထက်သည် ပိုမိုပြောင်မြောက်လျက် ရုရှားနိုင်ငံသည်

ဗုန်းဗုန်းလဲကျဆုံး ကာ ကမ္ဘာမြေကြီး၏မျက်နှာပြင်သည်လည်း ပြောင်းလဲ သွား လိမ့်မည်ဟု ၎င်းတို့က ရေးခဲ့ကြသည်။ ရုရှားနိုင်ငံ ၏ကံကြမ္မာကို (ပီတာဘုရင် ကြီးကဲ့သို့သော လူပုဂ္ဂိုလ် တစ်ဦးတစ်ယောက်က ဖန်တီးသည်ဟု ယုံကြည်သော ရာဇဝင်ဆရာများ၊ ပြင်သစ်လက်နက် နိုင်ငံတော်ကြီးပေါ် ပေါက်လာခြင်းနှင့် ပြင် သစ်စစ်သားများ ရုရှားနိုင်ငံကို ဝင်ရောက်တိုက်ခိုက်ခြင်း စသည်တို့သည် (နပိုလီ ယန် ကဲ့သို့သော) လူပုဂ္ဂိုလ်တစ်ဦး၏ စိတ်ဆန္ဒအရ ဖြစ်ပေါ် လာရသည်ဟုယူဆ သော ရာဇဝင်ဆရာများအဖို့ကား ဩ ဂုတ်လ ၂၄-ရက်နေ့တွင် နပိုလီယန် အအေးမိခြင်းကြောင့် ရုရှားနိုင်ငံကြီး ဗုန်းဗုန်းလဲမကျဆုံးသေးခြင်း ဖြစ်သည် ဆို သောစကားသည် ယုတ္တိရှိကောင်း ရှိပေလိမ့်မည်။

၎င်းတို့ပြောသကဲ့သို့ ဘိုရိုဒီနိုတိုက်ပွဲကို တိုက်ရေး မတိုက်ရေးနှင့် စီမံကွပ်ကဲ မှုဟူသမျှသည် နပိုလီယန်တစ်ဦး တည်း၏စိတ်ဆန္ဒပေါ်တွင် တည်နေသည်ဟုသာ ဆိုလျှင် - ၎င်း၏ဆန္ဒကို အကောင်အထည်ဖော်ခြင်းမပြုနိုင်အောင် နပိုလီယန်အား စွဲကပ်ခဲ့သည့် အအေးမိသော ရောဂါကို ကျေးဇူးတင်ရတော့မည်သာ ဖြစ်လေ သည်။ နပိုလီယန် အအေးမိ နေခြင်းကြောင့် ရုရှားနိုင်ငံကြီး မပျက်စီးခဲ့ရ သေးခြင်း ဖြစ်သည်ဟု ဆိုရတော့မည်သာ ဖြစ်ပေသည်။

ဩဂုတ်လ ၂၄-ရက်နေ့က နပိုလီယန်အား ရေခံ့ဖိနပ်ရှည်ကို ယူမပေးခဲ့မိ သော မောင်မင်းကြီးသား လက်ပါးစေကိုပင် ရုရှားနိုင်ငံကြီးကို နပိုလီယန်လက်မှ ကယ်တင်ပေးခဲ့သူ ကယ်တင်ရှင်ကြီးအဖြစ် ကိုးကွယ်ထားရန်သာ ရှိပါတော့ သည်။ ပညာရှိရာဇဝင်ဆရာကြီး များ၏ တွေးခေါ်ပုံအတိုင်း တွေးခေါ်ပါက ဤသို့ ကောက်ချက်ချရန်မှတစ်ပါး အခြား မရှိတော့ချေ။ ဤအတိုင်းဆိုလျှင် စိန့်ဘာသို လိုမြူးတွင် လူများအစုလိုက်၊ အပြုံလိုက် အသတ်ခံရခြင်းမှာ နဝမ မြောက် ချားလ် ဘုရင် လေနာထသောကြောင့် ဖြစ်ရသည် ဟူသော (ပြင်သစ်စာရေးဆရာကြီး) ဗောလ်တဲယား၏ ပြက်လုံးကဲ့သို့ (ဆရာကြီး ဗောလ်တဲယားသည် မည်သည် ကို

ရည်ရွယ်၍ ပြက်လုံးထုတ်ခဲ့သည်ကိုမူ ကျွန်ုပ်မသိပါ။) ရုရှားကိုကယ်တင်ခဲ့သူ ကယ်တင်ရှင်မှာလည်း နပိုလီယန် အား ရေခဲဖိနပ်ရှည် မပေးခဲ့မိသော မောင်မင်းကြီးသား လက်ပါးစေသာဖြစ်သည်ဟု ဆိုရတော့မည် ဖြစ်ပါသည်။ သို့သော်လည်း ရုရှားပြည်၏ ကံကြမ္မာကို (ပီတာဘုရင် ကြီးကဲ့သို့သော) လူပုဂ္ဂိုလ်တစ်ဦး၏ စိတ်ဆန္ဒဖြင့် ဖန်တီး ခြင်းဖြစ်သည်ဟု မယုံကြည်သူများ၊ ပြင်သစ်လက်နက် နိုင်ငံကြီး ပေါ်ပေါက်လာခြင်းနှင့် ရုရှားကိုဝင်ရောက်တိုက် ခိုက်ခြင်း စသည်တို့သည် (နပိုလီယန်ကဲ့သို့သော) လူပုဂ္ဂိုလ် တစ်ဦး၏ စိတ်ဆန္ဒအရ ပေါ်ပေါက်လာခြင်းဖြစ်သည်ဟု မယုံကြည်သူများ အဖို့၌ကား အဆိုပါ ပညာရှိရာဇဝင်ဆရာ များ၏ အဆိုအမိန့်သည် မှန်လည်း မမှန်၊ ယုတ္တိလည်း မတန်ချေ။ ထိုမျှမက လူ့သဘာဝနှင့်လည်း ဆန့်ကျင်လျက် ရှိပေသည်။ ရာဇဝင်အဖြစ်အပျက်ကြီးများ အဘယ်ကြောင့် ပေါ်ပေါက်လာရသည်ဆိုခြင်းနှင့် ပတ်သက်၍ ၎င်းတို့၏ အမြင်၌ကား တစ်မျိုးဖြစ်ပေသည်။ ၎င်းတို့၏အမြင်တွင် လူ့အဖြစ်အပျက်များ၏ အစဉ်သည် ကမ္ဘာ့ နိယာမတရား၏ ပြဋ္ဌာန်းချက်အရ ပေါ်ပေါက်လာရခြင်း ဖြစ်လျက် ထို အဖြစ်အပျက်များတွင် ပါဝင်လှုပ်ရှားသူများ၏ စိတ်ဆန္ဒ အချင်းချင်း မတော်တဆ တိုက်ဆိုင်မှုပေါ်တွင် တည်လျက် ရှိသည်ဟု ယူဆကြပေသည်။ ၎င်းတို့အမြင်တွင် ယခု အဖြစ်အပျက်များ၌ နပိုလီယန်ဆိုသော လူတစ်ယောက်က ဩဇာလွှမ်းမိုးလျက်ရှိသည် ဆိုခြင်းမှာလည်း အပေါ်ယံ ပဝတ္တိ အကြောင်းတရားမျှသာ ဖြစ်လေသည်။ ဇာတိ အကြောင်းတရား မဟုတ်ချေ။

ဘာသိုလိုမြူးတွင် လူများကို အစုလိုက် အပြုံလိုက် သတ်ရန် အမိန့်ပေးသူမှာ ချားလ်ဘုရင်ဖြစ်၍ ၎င်း၏အမိန့် အရ လူပေါင်းများစွာကို သတ်ဖြတ်ရခြင်းဖြစ်သည်မှန် သော်လည်း ဘာသိုလိုမြူးလူသတ်ပွဲသည် ချားလ်ဘုရင်၏ စိတ်ဆန္ဒအရ ဖြစ်ရခြင်း မဟုတ်ချေ။ အလားတူပင် ဘိုရိုဒီနိုတိုက်ပွဲကို ကွပ်ကဲသူမှာ နပိုလီယန်ဖြစ်၍ ၎င်း၏အမိန့် အရ စစ်တိုက်ရခြင်းဖြစ်သည် မှန်သော်လည်း ဘိုရိုဒီနို၌

လူပေါင်းရှစ်သောင်း သတ်ဖြတ်ခဲ့ခြင်းသည် နပိုလီယန်၏ စိတ်ဆန္ဒအတိုင်း ဖြစ်ရခြင်း မဟုတ်ချေ။ ဤသို့ ဆိုလိုက် ခြင်းကြောင့် ရုတ်တရက်သော် ထူးဆန်းသယောင်ယောင် ရှိသည်။ ဆန်း၍သာ ဆန်းရမည်။ ထိုအဖြစ်အပျက်များ သည် လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ဆန္ဒကြောင့် ပေါ် ပေါက်ခဲ့ရခြင်းမဟုတ်ချေ။ သို့ဖြစ်လျှင် ဤအဖြစ်အပျက် များ အဘယ်ကြောင့် ပေါ်ပေါက်ခဲ့ရသနည်း။ ထိုအဖြစ် အပျက်များ ပေါ်ပေါက်လာရခြင်းမှာ အခြားကြောင့် မဟုတ်။ (ကျွန်ုပ်တို့အားလုံးသည် နပိုလီယန်ကဲ့သို့ ထင်ရှား ကြီးကျယ်သည့် ပုဂ္ဂိုလ်ကြီးထက် မသာသည့်တိုင် သူ့ထက် အောက်တန်း မကျသည့် လူအချင်းချင်းသာဖြစ်သည်ဟု ကျွန်ုပ်တို့အား ပြောဆိုလျက်ရှိသော) လူ၏ဂုဏ်သိက္ခာ၊ လူ၏မာနတရားက ဤပြဿနာကို စစ်တိုက်ခြင်းဖြင့် ဖြေရှင်းရန် တောင်းဆိုသောကြောင့် ဖြစ်လေသည်။ ရာဇဝင် ကလည်း ဤအချက်ကို အခိုင်အမာ သက်သေထူခဲ့ပြီး ဖြစ်ပေသည်။

ဘိုရိုဒီနိုတိုက်ပွဲ၌ နပိုလီယန်သည် သေနတ်တစ် ချက်ကိုသော်မျှ ပစ်ဖောက်ခဲ့ခြင်း မရှိချေ။ မည်သူ့ကိုမျှ လည်း ကိုယ်ထိလက်ရောက် မသတ်ခဲ့ချေ။ သတ်ဖြတ်ခြင်း အမှုကို ကိုယ်ထိလက်ရောက်ပြုရသူမှာ တပ်သားများသာ ဖြစ်လေသည်။ ထို့ကြောင့် လူများကို သတ်ဖြတ်ခြင်းပြု ခဲ့သူမှာ နပိုလီယန်မဟုတ်ချေ။

ရိုဒီနိုတိုက်ပွဲတွင် ရုရှားစစ်သားများကို ပြင်သစ် စစ်သားများက သတ်ဖြတ်ခဲ့ခြင်း၊ ၎င်း၏အသက်ကို အသေခံခဲ့ခြင်းမှာ နပိုလီယန်၏အမိန့်ကြောင့် မဟုတ်ချေ။ ၎င်းတို့၏ အကြောင်းတရားကြောင့်သာ ဖြစ်လေသည်။ နပိုလီယန်၏စစ်တပ်ကြီးထဲ၌ ပါဝင်သော ပြင်သစ်တပ် သား၊ အီတလီ တပ်သား၊ ဂျာမန်တပ်သား၊ ပိုလန်တပ်သား၊ ဒတ်ချ်တပ်သားစသည့် တပ်သားများအားလုံးသည် အစာ ရေစာငတ်ပြတ်လျက် ရှိကြ၏။ အဝတ်အထည် နွမ်းပါး စုတ်ပြတ်လျက် ရှိကြ၏။ အကြီးအကျယ် စစ်ပန်းလျက် ရှိကြ၏။ ၎င်းတို့သည် ဤသို့ဖြင့် အစားအစာနှင့်

နားနေ အိပ်စက်ခြင်းကို မွတ်သိပ်လျက်ရှိကြလေရာ (၎င်းတို့ တောင့်တလျက်ရှိသောအရာများရှိသည်ဟု ၎င်းတို့ဘာသာ ထင်လျက်ရှိသော) မော်စကိုမြို့သွားလမ်းမကြီးပေါ်တွင် ဆီးဆို့ပိတ်ထားသောရုရှားစစ်တပ်ကြီးကို မြင်သည်၌ သေ လိုလည်း သေစေတော့မထူးပြီ။ ငါတို့၏ဘ၀ကား သူရာ ခွက်ထဲသို့ လောင်းငဲ့ပြီးသား သူရာရည်ကဲ့သို့ ဖြစ်ခဲ့ကြပြီ။ သူရာခွက်ထဲသို့ လောင်းငဲ့ပြီးသား သူရာရည်သည် ပုလင်း ထဲသို့ ပြန်၍ဝင်ရိုးမရှိပြီဟု အောက်မေ့ကြလျက် ရှေ့သို့ တရကြမ်း ချီတက်ခဲ့ကြခြင်းသာ ဖြစ်လေသည်။ ၎င်းတို့အား လမ်းမှ ခေါဘဏီတပ်ကြီး ပိတ်ဆို့ထားစေကာမူ အတင်း ထိုးဖောက် ချီတက်ရန် စိတ်နှလုံးကို ဒုန်းဒုန်းချပြီး ဖြစ် လေသည်။ ထိုစဉ်က ရုရှားတပ်များကို တိုက်ခိုက်ခြင်း မပြုအောင် နပိုလီယန်ကိုယ်တိုင်က ဟန့်တားခြင်း ပြုခဲ့ လျှင်လည်း ၎င်းတို့သည် နာခံခြင်း ပြုကြလိမ့်မည် မဟုတ် ချေ။ နပိုလီယန်ကို ပြန်သတ်ကာ ရုရှားတပ်များကို တိုက် ကြတော့မည်သာ ဖြစ်လေသည်။ ၎င်းတို့အဖို့ ထိုနည်းမှ လွဲ၍ အခြားနည်း မရှိတော့ချေ။

- "ရဲမက်တို့ မော်စကို ရှေ့ပြေးတိုက်ပွဲတွင် သင်တို့ ပါဝင်ကြောင်းကို နောင်လာနောက်သားတို့ ပြောစမှတ် ပြု၍ ကျန်ရစ်ခဲ့အောင် ဆောင်ရွက်ကြကုန်" ဟု နပိုလီယန် က ၎င်း၏အမိန့်တော်ပြန်တမ်းတွင် ဖော်ပြခဲ့၏။ ဤသည် - မှာ စစ်ပွဲတွင် အသက်အသေခံခြင်း၊ ခြေကျိုးလက်မဲ့ဖြစ် ခြင်းတို့အတွက် စစ်သားများကို နပိုလီယန်က "လျော်ကြေး" ပေးခဲ့ခြင်း ဖြစ်၏။ နှစ်သိမ့်မှုရအောင် "ချွေးသိပ်" ပေးခြင်းမျှသာဖြစ်၏။ ထိုစဉ်က ပြင်သစ်တပ်သားများသည် နပို လီယန်၏ "ချွေးသိပ်"စကားကို အဟုတ်ကြီးထင်ခဲ့ကြကာ "ဘုန်းတော်ကြီးသောဧကရာဇ် သက်တော်ရာကျော် ရှည် ပါစေ" ဟု အားရ၀မ်းသာ ကြွေးကြော်ခဲ့ကြ၏။ ရာဇလှံတံ ဖြင့် ကမ္ဘာလုံးကို ကစားနေသော နပိုလီယန်၏သားတော် ရုပ်ပုံကို မြင်

သောအခါ၌လည်း တပ်သားများသည် “ဘုန်း တော်ကြီးသောဧကရာဇ် သက်တော် ရာကျော်ရှည်ပါစေ” ဟု ကြွေးကြော်ခဲ့ကြ၏။

အကယ်၍ နပိုလီယန်က အဓိပ္ပာယ်မရှိသော စကားများကို ပြောဆိုခြင်းပြု လျှင်လည်း ၎င်းတို့သည် “ဘုန်းတော်ကြီးသောဧကရာဇ် သက်တော်ရာကျော် ရှည်ပါစေ'ဟု ကြွေးကြော်ကြဦးမည်သာ ဖြစ်ပါသည်။ ၎င်းတို့ အဖို့၌ “ဘုန်းတော် ကြီးသော ဧကရာဇ် သက်တော်ရာကျော် ရှည်ပါစေ” ဟု ကြွေးကြော်ရန်နှင့် အောင်နိုင်သူကြီးများ ' အဖြစ် အစာရေစာ ဝလင်စွာ စားသောက်နိုင်ရေး၊ အနား ယူနိုင်ရေးအတွက် စစ်ပွဲကို ဆက်လက်တိုက်ခိုက်ရန်မှ တစ်ပါး အခြား ဘာမျှ လုပ် စရာလည်း မရှိတော့ချေ။ သို့ဖြစ်ရကား ပြင်သစ်တပ်သားများက လူအချင်းချင်း သတ်ဖြတ်ခဲ့ကြခြင်းမှာ ထိုအကြောင်းများကြောင့်သာ ဖြစ် လေသည်။ နပိုလီ ယန်၏အမိန့်များကြောင့် မဟုတ်ချေ။

နပိုလီယန်သည် လူသတ်ခြင်းအမှုကို ပြုသူမဟုတ် ဟုဆိုလျှင် စီစဉ်ညွှန် ကြားသူလောဟု စောဒနာပြုဖွယ် ရှိပြန်၏။ စီစဉ်ညွှန်ကြားသူလည်း မဟုတ်ချေ။ တိုက်ပွဲ ဖြစ်ပွားချိန်၌ နပိုလီယန်၏အမိန့်များ အရာမထင်ဖြစ်ခဲ့ ရခြင်း၊ ၎င်း ကိုယ်တိုင် တိုက်ပွဲအခြေအနေကို ဘာမျှမသိ ခဲ့ခြင်းစသည့်အကြောင်းများကြောင့် နပိုလီယန်အား စစ်ပွဲ ကို စီစဉ်ညွှန်ကြားသူဟု မပြောနိုင်ချေ။ အလားတူပင် ရုရှား တပ်သားများနှင့် ပြင်သစ်တပ်သားများ တစ်ဦးနှင့် တစ်ဦး မည်သို့ မည်ပုံ သတ်ဖြတ်ခြင်းပြုရမည်ဆိုသည့် နည်းလမ်း ကိုလည်း နပိုလီယန်က ဆုံးဖြတ်ပေး ခြင်း မဟုတ်ချေ။ ၎င်းတို့သည် နပိုလီယန်၏ဆန္ဒနှင့် ကင်းလွတ် ဖြစ်ပေါ် လာခဲ့ကြ ခြင်းသာ ဖြစ်လေသည်။ တိုက်ပွဲတွင် ကိုယ်ထိ လက်ရောက် ပါဝင်တိုက်ခိုက်ကြ သည့် ထောင်ပေါင်းများ စွာသော တပ်သားများ၏စိတ်ဆန္ဒအရ ဖြစ်ပေါ်လာကြ ခြင်းသာ ဖြစ်လေသည်။ ဘိုရိုဒီနိုတိုက်ပွဲသည် နပိုလီယန် တစ်ဦး

တည်း၏အလိုဆန္ဒအရ ဖြစ်ရသည်ဟူသော အထင် မှာ နပိုလီယန်တစ်ဦးတည်း၏ အထင်မျှသာ ဖြစ်လေသည်။ ထို့ကြောင့် ရာဇဝင်သဘောဖြင့် ကြည့်လျှင် နပိုလီယန် အအေးမိခြင်း မမိခြင်းမှာ သာမန် ထောက်ပံ့ရေးတပ်သား ကလေးတစ်ဦး အအေးမိခြင်း မမိခြင်းထက် ထူး၍ စိတ် ဝင်စားဖွယ်ကောင်းလှသည် မဟုတ်ချေ။ . အချို့ရာဇဝင်ဆရာများက နပိုလီယန်သည်အအေး မိနေခြင်းကြောင့် ၎င်း၏စစ်အင်္ဂါစဉ်ကို ယခင်စစ်ပွဲများ ကကဲ့သို့ ကောင်းစွာရေးဆွဲနိုင်ခြင်း မရှိ၊ တိုက်ပွဲအတွင်း ထုတ်ပြန်ခဲ့သောအမိန့်များသည်လည်း ယခင်စစ်ပွဲများမှာ ကဲ့သို့ ကောင်းမွန်ခြင်းမရှိဟု ဆိုကြပြန်သည်။ ထိုစကား သည်လည်း အခြေအမြစ်မရှိသောစကား မဟုတ်ချေ။

အထက်တွင် ဖော်ပြခဲ့သည့် စစ်အင်္ဂါစဉ်များသည် (ညံ့ဖျင်း ရှုပ်ထွေးသည် မှန်သော်လည်း) နပိုလီယန်ကို အောင်ပွဲရစေခဲ့သည့် ယခင် စစ်အင်္ဂါစဉ်များထက် ညံ့ဖျင်း ခြင်းမရှိရုံမျှမက ပို၍ပင် ကောင်းမွန်နေပေသေးသည်။ တိုက်ပွဲအတွင်း ထုတ်ပြန်သောအမိန့်များသည်လည်း ယခင် အမိန့်များထက် ညံ့ဖျင်းခြင်း မရှိကြချေ။ ဤစစ်အင်္ဂါစဉ် များနှင့် အမိန့်များသည် ယခင်စစ်အင်္ဂါစဉ်များနှင့် အမိန့် များထက်ညံ့ဖျင်းသည်ဟုထင်ကြလျှင် ဤသို့ထင်ခြင်းမှာ ဘိုရိုဒီနိုတိုက်ပွဲသည် နပိုလီယန် ပထမဆုံးရှုံးသောတိုက်ပွဲ ဖြစ်ခြင်းကြောင့်သာ ဖြစ်ပေသည်။ တိုက်ပွဲတစ်ပွဲ ရှုံးပြီဟု ဆိုသည်နှင့် တစ်ပြိုင်နက် အကောင်းဆုံး၊ စနစ်အကျဆုံး သော စစ်အင်္ဂါစဉ် များသည် အညံ့ဆုံး၊ အဖျင်းဆုံးဟု ထင်စရာဖြစ်လာတတ်ကြသည်သာ မဟုတ် လော။ ထိုအခါ ၌ အတော်ဆုံး အကြားအမြင်နှင့် အပြည့်စုံဆုံးသော စစ် ပါရဂူများ ကလည်း ရေးကြီးခွင့်ကျယ် ဝေဖန်ပြစ်တင်တတ် ကြသည်သာ မဟုတ်လော။ တိုက်ပွဲတစ်ပွဲ နိုင်ပြီဆိုသည် နှင့် အညံ့ဆုံး၊ အဖျင်းဆုံးသောစစ်အင်္ဂါစဉ်များနှင့် အမိန့် များသည်လည်း အကောင်းဆုံးသော စစ်အင်္ဂါစဉ်များဟု ထင်စရာ ဖြစ်လာ ကြသည်သာ မဟုတ်လော။ ထိုအခါ၌ စစ်ပါရဂူများကလည်း ထိုမစ်အင်္ဂါစဉ်များနှင့်

အမိန့်များ၏ ကောင်းခြင်းလက္ခဏာ အဖြာဖြာတို့ကို ကျမ်းကြီး ကျမ်း ငယ် အသွယ်သွယ်ဖြင့် ဋီကာချဲ့ ၍ ရေးတတ်ကြသည်မှာ ဓမ္မတာသာ မဟုတ်လော။

ဩစတားလစ်စစ်ပွဲ စစ်အင်္ဂါစဉ်ကို ဗိုလ်ချုပ် ဝေရိုသာရေးဆွဲခဲ့၏။ ၎င်း၏စစ်အင်္ဂါစဉ်သည် အစစ အရာရာပြည့်စုံ၍ စံပြဆိုထိုက်သော စစ်အင်္ဂါစဉ် တစ်ရပ် ဖြစ်၏။ သို့ရာတွင် ဩစတားလစ်စစ်ပွဲရှုံးသည့်အခါ၌ကား ထိုသို့ ပြည့်စုံလွန်းခြင်း၊ အသေးစိတ်လွန်းခြင်း၊ တိကျလွန်း ခြင်းသည်ပင် အပြစ်တင်စရာ ဖြစ်လာခဲ့သည် မဟုတ်လော။ ဤမျှ အသေးစိတ်ရသလော၊ ဤမျှ ပြည့်စုံရသလော၊ ဤမျှ တိကျရသလောဟု ဝေဖန်ရှုတ်ချခဲ့ကြသည် မဟုတ် လော။

နပိုလီယန်သည် အခြားသော တိုက်ပွဲများမှာကဲ့ သို့ပင် ဘိုရိုဒီနို တိုက်ပွဲ၌လည်း အစွမ်းကုန်ကြိုးစားခဲ့သည် သာ ဖြစ်ပါသည်။ ပို၍ပင် ကြိုးစားခဲ့ပါ သေးသည်။ ဘိုရို ဒီနိုတိုက်ပွဲအတွင်း၌ နပိုလီယန်သည် အရေးနိမ့်စေမည့် အရာ ဆို၍ တစ်ခုမျှ ပြုလုပ်ခဲ့ခြင်းလည်း မရှိ၊ ယုတ္တိရှိ   သော အကြံပေးချက်ဟူသမျှကို ငြင်းပယ်ခြင်းလည်း မပြု။ အခြေအနေကို ရှုပ်ထွေးအောင်လည်း မလုပ်။ မပြတ်မ သား ဆုတ်ဆိုင်း တွေဝေခြင်းလည်း မဖြစ်ခဲ့ချေ။ ကြောက် လန့်တုန်လှုပ်ခြင်း ကြောင့် စစ်မြေမှထွက်ပြေးခဲ့ခြင်းလည်း မပြုခဲ့ချေ။ ၎င်း၏ကျွမ်းကျင် သေသပ် သော ပရိယာယ်၊ ကြွယ်ဝသော စစ်ရေးအတွေ့အကြုံကို အသုံးပြုလျက် စစ်ပွဲ ကို ကြီးကြပ်ကွပ်ကဲသူ၏အခန်းကဏ္ဍမှ မင်သေသေဖြင့် သရုပ်ဆောင်ခဲ့သည်သာ ဖြစ် လေသည်။

# အခန်း ၂၉

နပိုလီယန်သည် စစ်ကြောင်းများကို ဒုတိယအကြိမ် သေချာ စွာလေ့လာ၏။ ထို့နောက် ၎င်း၏ယာယီတဲနန်းသို့ ပြန်ခဲ့ သည်။

“နယ်ရုပ်များကို တင်ပြီးလေပြီ၊ မနက်ဖြန်တွင် ကစားပွဲကြီးကို စတော့အံ့”

နပိုလီယန်သည် ဤသို့မိန့်ခွန်းတော်မွေ့၏။ ထို့ နောက် အမွေးအကြိုင်စပ် အရက်ချိုကို ယူခဲ့စေ၍ ဝင်း မှူးကြီး ဒီဗျူးဆေးကို ဆင့်ခေါ်၏။ ပါရီရွှေမြို့တော်၏ အကြောင်းနှင့်တကွ မိဖုရားခေါင်ကြီးအဆောင်တွင် ပြင် ဆင်မွမ်းမံလိုသောကိစ္စ များကို ပြောဆိုခြင်း ပြု၏။ ရွှေနန်း တော်ကြီးရှိ အခြင်းအရာကိစ္စအဝဝကို အသေးစိတ်မှတ် မိကြောင်း ပြခြင်းဖြင့် ဝင်းမှူးကြီး ဒီဗျူးဆေးအား အံ့အား သင့် ခြင်းဖြစ်စေ၏။ “

နပိုလီယန်သည် အသေးအဖွဲကိစ္စကလေးများ၌ စိတ်ဝင်စားကြောင်းကို ပြ ခြင်းဖြင့် ဝင်းမှူးကြီး ဒီဆေး အား အံ့အားသင့်စေခြင်း၊ ဝင်းမှူးကြီး ခရီးသွား ဝါသနာ [ ပါပုံကို အရေးတယူကျီစယ်ခြင်းတို့ကို ပြုပြီးသော် အေးအေး လူလူ စကားပြောလျက်ရှိ၏။ ဤသို့ဖြင့် နက်ဖြန် တိုက်ပွဲ အတွက် ပြင်ဆင်ပြီးနောက် န ပိုလီယန် အေးအေးလူလူ စကားပြောဆိုနေပုံမှာ ဥပမာအားဖြင့်ဆိုရသော် မိမိ အလုပ် ကို ကောင်းစွာနားလည်၍ ကိုယ့်ကိုယ်ကို ယုံကြည်မှု အပြည့်ရှိသော နာမည်ကျော် ခွဲစိတ်မှုဆရာဝန်တစ်ဦးသည် လူနာကို ခွဲစိတ်ခန်းစားပွဲပေါ်သို့ တင် လျက်ရှိချိန်၌ ခွဲစိတ် ခန်းဝတ်ရုံကို ဝတ်ရင်း အေးအေးဆေးဆေး စကားပြောဆို နေပုံမျိုးနှင့်ပင် တူလှပါဘိသည်။

“ဤအရေးတော်တစ်ခုလုံး ယခု ငါ့လက်သို့ ရောက်လျက်ရှိပြီ၊ ငါ၏ ခေါင်း ထဲ၌ အစစ အရာရာ စီမံ ပြီး ဖြစ်ပြီ။ အချိန်ဆိုက်လာသည်နှင့် ငါသည် ဤအရေး ကိစ္စကို ငါမှအပ အခြားမည်သူမျှ လုပ်ဆောင်နိုင်စွမ်း မရှိသော အစွမ်းသတ္တိမျိုးဖြင့် လုပ်ဆောင်တော်မူမည်။ ယခု အချိန်တွင်ကား အေးအေးလူလူ နောက်ပြောင်

ကျီစယ် နေလိုတော်မူသည်၊ ငါကိုယ်တော်တိုင်က တုန်လှုပ်ခြင်း ကင်း၍ နှလုံး ရွှင်မြူး အထူးတလည်ကျီစယ်သမှု ပြုနေ သမျှ မောင်မင်းတို့လည်း နှလုံး တည်ကြည် ယုံကြည်စိတ်ချ စွာ နေကြကုန်။ ငါ၏ ဘုန်းကံပါရမီ ကြီးကျယ်ခြင်းကို အံ့ချီးကြကုန်”

နပိုလီယန်၏ အမူအရာသည် ဤသို့ ဆိုသကဲ့သို့ ရှိ၏။

နပိုလီယန်သည် အမွှေးနံ့သင်းသော အရက်ချို တစ်ခွက်ကို နောက်ထပ် သောက်ပြီးသော် နက်ဖြန်တွင် မိမိအား လက်ကမ်းစောင့်ဆိုင်းလျက်ရှိသော တိုက်ပွဲကြီး မတိုင်မီ ကောင်းစွာ နားနေအိပ်စက်ခြင်း ပြုလေသည်။ နပိုလီယန် သည် ထိုကိစ္စကိုသာ တွေးလျက်ရှိသဖြင့် ထို နေ့ညက ကောင်းစွာအိပ်မပျော်ချေ။ ညဦးပိုင်းက ရာသီ ဥတုဆိုးရွားသဖြင့် ၎င်း၏အအေးမိရောဂါသည် အနည်း ငယ် ဆိုးလာ၏။ သို့ရာတွင် နပိုလီယန်သည် အိပ်ခန်း ဆောင်ထဲ၌ ကြာရှည်မနေနိုင် တော့ပြီ။ နံနက်သုံးချက်တီး ၌ နပိုလီယန်သည် ပိတ်ဆို့လျက်ရှိသော နှာခေါင်းကို တရှူးရှူးမှုတ်ထုတ်ရင်း ယာယီတဲနန်း အပြင်ဆောင်သို့ ထွက်လာခဲ့သည်။ ရုရှား တပ်များ ၎င်းတို့ခံစစ်ကြောင်းမှ ဆုတ်ခွာသွား မသွားမေးမြန်းကြည့်ရာ ရန်သူစခန်း မှ မီးပုံ များ ယခင်နေရာအတိုင်း ရှိနေသေးကြောင်းဖြင့် သိရ၏။ နပိုလီယန်သည် ခေါင်းကို တဆတ်ဆတ်ညိတ်လိုက်၏။

တာဝန်ကျ တပ်ရေးဗိုလ် ရတ်ပ်သည် ယာယီရွက် ထည် တဲနန်းတွင်းသို့ ဝင်လာလေသည်။

“တပ်ရေးကြီး၊ ငါ၏တပ်တော်များ ယနေ့ အောင် မြင်မည် ထင်သလော”

“မှန်လှပါ၊ ဘုန်းတော်ကြောင့် ပွဲလမ်းရမည်ဖြစ် ကြောင်းပါ” တပ်ရေးကြီး ရ တ်ပ်က ဖြေ၏။

နပိုလီယန်သည် တပ်ရေးကြီး ရတ်ပ်ကို ကြည့်၏။ "လျှောက်ဝံ့ပါသည် ဘုရား၊ "သူရာခွက်ကို လောင်း ငံ့ပြီး သူရာရည်သည် ပုလင်းထဲသို့ ပြန်ဝင်ရိုးမရှိ" ဟု စမိုးလင့်တိုက်ပွဲပြီးချိန်၌ ဘုန်းတော်ကြီးသော ဘုရား မိန့် တော်မူဖူးပါသည်။ မှတ်မိပါ၏လော"

နိပိုလီယန်သည် မျက်မှောင်ကုတ်၏။ ထို့နောက် နဖူးကို လက်ဖြင့် ထောက်၍ စဉ်းစားလျက် ရှိသည်။

"ဤစစ်တပ်ကြီးသည် သနားစရာကောင်းစွ" နပို လီယန်က လွှတ်ခနဲ ပြော လိုက်၏။ "ငါ၏တပ်တော်ကြီး သည် စမိုးလင့်တိုက်ပွဲကတည်းက အထိနာခဲ့ပြီ တပ်ရေး ကြီး၊ ကံတရားဟူသည် ပြည့်တန်ဆာမကဲ့သို့ အပြောင်း အလဲမြန်လှ သည်တကား၊ ဤစကားကို ငါ မကြာခဏ ပြောဖူးသည်၊ ပြည့်တန်ဆာမကဲ့သို့ အပြောင်းအလဲမြန် သော ကံတရားသည် ယခု ငါ့ကို လှည့်စားပြီထင်သည် တပ်ရေးကြီး၊ ငါ၏ကိုယ်ရံတော်တပ်များ အရှအနာကင်း၏ လာ"

"မှန်ပါ အထိအခိုက် မရှိကြောင်းပါ" နပိုလီယန်သည် မှန်ကူကွက်ပုံ ချောင်းဆိုးပျောက် ဆေးကို ပါးစပ်ထဲသို့ ထည့်၍ ပြုံးရင်း နာရီကို ကြည့်၏။ ( အရုဏ်တက်လာပြီ ဖြစ်သော်လည်း နပိုလီယန် အိပ်၍ မရတော့ပြီ။ တပ်အသီးသီး သို့ အမိန့်များလည်း ထုတ်ပြန် ပြီးလေပြီ။ အချို့ တပ်များကား ထိုအမိန့်များကို စတင် အကောင်အထည်ဖော်ရန် ပြင်လျက် ရှိကြလေပြီ။ အိပ် မပျော်သည့် အတူတူ အချိန်ဖြုန်းသည့်အနေဖြင့် အမိန့်များ ရေးဆွဲထုတ်ပြန်ဖို့ စိတ်ကူး သော်လည်း အမိန့်ထုတ်စရာ မရှိတော့ပြီ။

"ကိုယ်ရံတော်တပ်များအား ရိက္ခာမုန့်ကျွတ်များ နှင့် ဆန်များထုတ်ပေးပြီးပြီ လော" နပိုလီယန်က မေး လိုက်၏။

"မှန်ပါ ထုတ်ပေးပြီးကြောင်းပါ"

”ဆန်များကော ထုတ်ပေးပြီးပြီလေ”

တပ်ရေးကြီး ရတ်ပ်က တပ်သားများအား ဆန်များ ဝေငှပေးရေးနှင့် စပ်လျဉ်း၍ ဘုရင်ကေရာဇ်အမိန့်အတိုင်း ဆောင်ရွက်ပြီး ဖြစ်ကြောင်း လျှောက်တင်သော်လည်း နပို လီယန်သည် မိမိ၏အမိန့်အတိုင်း ဆောင်ရွက်သည်ဟု မယုံကြည်သည့်ပမာ ကျေနပ်ခြင်းမရှိသေးဘဲ ခေါင်းကို ယမ်းလျက်ရှိ၏။ ထိုအတွင်း လက်ပါးစေတစ်ယောက် က အမွှေးနံ့သင်းသော အရက်ချိုကို လာရောက်ဆက်သလေသည်။ နပိုလီယန်သည် တပ်ရေးကြီး ရတ်ပ်အတွက် တစ်ခွက်ယူခဲ့ရန် စေလိုက်ပြီး အရက်ချိုကို တိတ်ဆိတ်စွာ သောက်လျက် ရှိသည်။ အတန်ကြာမှ အရက်ခွက်ကို အနံ့ ခံ၍ ကြည့်ရင်း

”ငါ့မှာ အနံ့ ဘာမှ မရဘူး မောင်မင်း၊ အအေး မိသောရောဂါသည် စိတ်ပျက်စရာ ကောင်းလိုက်ပါဘိ တော့သည်။ လူများသည် ဆေးပညာအကြောင်းကို တအံ့တသြပြောဆိုကြသည်။ သို့သော်လည်း အအေးမိသော ရောဂါလောက်မျှကိုပင် ပျောက်ကင်းအောင် မတတ်နိုင် သောဆေးပညာသည် အဘယ်မှာ အသုံးဝင်မည်နည်း။ ငါ၏ သမားတော်ကြီး ကိုဗီးဆားက ဤချောင်းဆိုးပျောက် ဆေးများကို ညွှန်းသော်လည်း ယခု သင်းတို့လည်း ငါ့ ရောဂါကိုပျောက်အောင် မတတ်နိုင်ပြီ။ စင်စစ် ဆေးဆရာ ဆိုသည်များသည်လည်း ဘာကိုမျှ ကုနိုင်ကြသည်မဟုတ်။

လောက၌ ရောဂါဝေဒနာကို ကုနိုင်သည်ဟူ၍ မရှိ။ ငါ တို့၏ရုပ်ခန္ဓာကြီးသည် အသက်ရှင်လှုပ်ရှားနေသော စက် ယန္တရားကြီးသာ ဖြစ်သည်။ အသက်ရှင်နေရန်အတွက် ဤရုပ် ဤခန္ဓာကြီး ဖွဲ့စည်းပေါ်ပေါက်လာခြင်းသာ ဖြစ် သည် မဟုတ်လော။ အသက်ရှင်လှုပ်ရှားခြင်းသည် ရုပ်ခန္ဓာ ကြီး၏သဘာဝပင် ဖြစ်သည် မဟုတ်လော။ တကယ်၌ ငါတို့၏အသက်ဓာတ်အားကို ဤရုပ်ခန္ဓာထဲတွင် အထိန်းအချုပ် အတားအဆီး မရှိနေစေခြင်းသာ အကောင်းဆုံး ဖြစ်တော့သည်။ အသက်

ခေတ်အားနှင့် ရုပ်ခန္ဓာကို မည်သူ ကမျှ အကာအကွယ်မပေးဘဲ ၎င်းတို့ သဘာဝ အလျောက် ကာကွယ်စေခြင်းသာ အကောင်းဆုံးဖြစ်တော့သည်။ ခန္ဓာ ကိုယ်ကြီး အား ဆေးဝါးများတိုက်ကျွေးခြင်းသည် သင်းအား ကုစားရာ မရောက်ဘဲ ဖျက်ဆီး ရာသာ ရောက်တော့သည်။ ငါတို့၏ရုပ်ခန္ဓာသည် တစ်စုံတစ်ခုသောအချိန်ကာလ အထိ သွားလာစေရန် သံပတ်ပေးထားသောနာရီနှင့် တူ၏။ သံပတ်ကုန်က နာရီ ရပ်မည်သာဖြစ်သည်။ တတ်လှစွာ သော နာရီပြင်ဆရာသည် ထိုနာရီကိုပြင်ရန် ကြိုးစားရာ၌ ထိုနာရီကို ဖွင့်ပြင်၍ရသည် မဟုတ်။ အပြင်မှ ရော်ရမ်း မှန်းဆ၍သာ စမ်းတဝါးဝါးပြင်ရသည် မဟုတ်လော။ အိမ်း၊ ငါတို့၏ရုပ်ခန္ဓာကြီးသည် အချုပ်၌ ဘာမျှမဟုတ်။ အသက်ရှင်နေသော စက်ယန္တရားကြီးတစ်ခုသာ ဖြစ် တော့သည်”

နပိုလီယန်သည် အနက်အဓိပ္ပာယ်ဖွင့်ဆိုခြင်း၌ များစွာဝါသနာထုံသူဖြစ်သည့် အလျောက် ဤသို့ ရှည် လျားစွာပြောဆိုပြီးနောက် နောက်ထပ်အနက်အဓိပ္ပာယ် သစ်တစ်ခုကို ဖွင့်ဆိုခြင်း ပြုပြန်သည်။

“တပ်ရေးကြီး စစ်သေနင်္ဗျူဟာ အတတ်ပညာ ဆိုသည်မှာ အဘယ်အရာ ကို ခေါ်သနည်း၊ သင် သိသလော၊ စစ်သေနင်္ဗျူဟာအတတ်ဆိုသည်မှာ အခြား မဟုတ်၊ တစ်စုံတစ်ခုသောအချိန်ကာလတစ်ခုအတွင်း၌ မိမိကိုယ် ကို မိမိရန်သူ ထက် အင်အားသာလွန်ကြီးမားစေရန် ပြု လုပ်တတ်သော အတတ်ပညာသာ ဖြစ် ချေသည်၊ ထိုမှ လွဲ၍ အခြား ဘာမျှမဟုတ်”

တပ်ရေးကြီး ရတ်ပတ်သည် မည်သို့မျှ ပြောဆိုခြင်း မပြုချေ။

“တပ်ရေးကြီး၊ နက်ဖြန် မိုးသောက်လျှင် ရုရှား ဗိုလ်ချုပ်ကူတူဇော့ဗ်နှင့် ငါတို့ ရင်ဆိုင်တွေ့ကြတော့မည်။ ကျားနှင့် ဆင် လယ်ပြင်တွင် တွေ့ကြချေတော့မည်၊ ကူတူ ဇော့ဗ်သည် ဘရောနောတိုက်ပွဲ၌ ၎င်း၏တပ်ကို ဦးစီးခဲ့ ရာတွင် ရက်သတ္တ

သုံးပတ်မျှသာ ခံခဲ့သည် မဟုတ်လော၊ မိမိ၏တပ်မြို့ကို စစ်ဆေးရန် မြင်းပေါ်သို့ တစ်ခါဖူးမျှပင် ( မတက်ခဲ့စဖူး မဟုတ်လား”

နပိုလီယန်သည် နာရီကို ကြည့်သည်။ အချိန်မှာ နံနက်လေးချက်တီးမျှသာ ရှိသေး၏။ နပိုလီယန်သည် အိပ်၍ မပျော်တော့ချေ။ အမွေးနံ့သင်းထားသော အရက် ချိုလည်း ကုန်ပြီဖြစ်ရာ ဘာမျှ လုပ်စရာမရှိတော့ချေ။ နပိုလီယန်သည် ထိုင်ရာမှ ထ၏။ ထိုမှ ဤသို့ ခေါက်တုံ့ခေါက်ပြန် လျှောက်၏။ ဦးထုပ်နှင့် အနွေးထည်ဝတ်ရုံ ကို ဝတ်ပြီးနောက် တဲနန်းအပြင်သို့ ထွက်လာခဲ့၏။ ည သည် ပိန်းပိတ်အောင် မှောင်လျက်ရှိကာ အေးမြလျက် ရှိ၏။ အေးမြသောအငွေ့ အသက်သည် ကောင်းကင်မှ လျှောကျဆင်းသက်လာသည်ဟု ထင်ရ၏။ မလှမ်းမကမ်းရှိ ပြင်သစ်ကိုယ်ရံတော် တပ်စခန်း၌ကား စခန်းမီးပုံများသည် ခပ်မှိန် မှိန်တောက်လောင်လျက် ရှိကြ၏။ အဝေး၌ကား ရုရှားခံစစ်ကြောင်းထဲမှ စခန်း မီးပုံများသည် မီးခိုးများ ကြားမှ တလက်လက် တောက်နေကြပေသည်။ ရာသီဥတု မှာ သာယာကြည်လင်လျက်ရှိရာ စစ်ကြောင်းများတွင် နေရာယူရန်အတွက် လှုးလွန့်လှုပ်ရှားနေကြသော ပြင်သစ်  တပ်စခန်းများမှ မြင်းခွာသံများ၊ လှုပ်ရှားသံ များကို ကြား နေရသည်။

နပိုလီယန်သည် ယာယီတဲနန်းရှေ့တွင် ခေါက်တုံ့ ခေါက်ပြန်လျှောက်ကာ ညီညီထိန်ထိန် တောက်လောင် လျက်ရှိသော အဝေးမှ စခန်းမီးပုံများကို လှမ်း ကြည့်၏။ တပ်များ၏ လှုးလွန့်လှုပ်ရှားသံများကို နားထောင်၏။ တဲနန်းရှေ့တွင် အစောင့်ကျနေရာမှ ဘုရင်ကေရာဇ် နပို လီယန်ကြွလာသည်ကို မြင်လိုက်သဖြင့် မည်းနက်သော ကျောက်တိုင်ကြီးတစ်တိုင်ပမာ တောင့်တောင့်ကြီး ရပ်လျက် ရှိ သော မွေးပွဦးထုပ်ဆောင်းထားသည့် ကိုယ်ရံတော်တပ် သားတစ်ဦးအနီးသို့ ရောက်လျှင် နပိုလီယန်သည် တုံ့ခနဲ ရပ်လိုက်သည်။ ““မောင်မင်း ဘယ်တုန်းက အမှုတော်ထမ်းသလဲ”

နပိုလီယန်က တပ်သားများကို နှုတ်ဆက်လေ့ရှိ သည့်ထုံးစံအတိုင်း စစ်သား တို့၏ ပြတ်ပြတ်တောင်းတောင်း အသံဖြင့် ရင်းနှီးစွာ မေးလိုက်သည်။

တပ်သားက နပိုလီယန်၏အမေးကို ပြန်၍ ဖြေ လိုက်၏။

"အိမ်း လက်စသတ်တော့ မောင်မင်းက တပ်သား ဟောင်းကိုး၊ မောင်မင်းတို့ တပ်ရင်းမှာ ဆန်များကော အလုံအလောက် ရပြီလား"

"မှန်ပါ ရပါပြီဘုရား"

နပိုလီယန်သည် ခေါင်းတဆတ်ဆတ်ညိတ်၍ လျှောက်လာခဲ့သည်။

နံနက်ငါးချက်တီးလျှင် နပိုလီယန်လည်း ရှီဗာ ဒီနိုရွာဘက်သို့ မြင်းစီး၍ ထွက်လာခဲ့၏။

အလင်းရောင်ပျို့လာပြီဖြစ်၍ ကောင်းကင်တစ်ခု တွင် လင်းလျက်ရှိ၏။ အရှေ့ဘက်ကောင်းကင်ပြင်၌ တိမ်တိုက်တစ်တိုက်သာ ရှိ၏။ တပ်စခန်းချရာ နေရာများ မှ မီးပုံများသည် နံနက်ခင်း၏ရောင်ခြည်ထဲတွင် တဖြည်း ဖြည်း မှိန်စ ပြုလာကြပေပြီ။

လက်ယာဘက်ဆီမှ အမြောက်ပစ်သံတစ်ချက် မြည်ဟည်း၍ ထွက် ပေါ်လာ၏။ ထို့နောက် တိတ်ဆိတ် သွားပြန်သည်။ ဤသို့ဖြင့် မိနစ်အနည်းငယ် ကြာသွား၏။ ဒုတိယအမြောက်သံတစ်ချက်နှင့် တတိယအမြောက်သံ တစ်ချက် ထွက်ပေါ်လာပြန်သည်။ ထို့နောက် လက်ယာ ဘက်ဆီမှ စတုတ္ထအမြောက်သံ တစ်ချက်နှင့် ပဉ္စမ အမြောက်သံတစ်ချက်တို့ မြည်ဟည်းလာပြန်သည်။

ပထမအမြောက်သံများ ပဲ့တင်မြည်ဟည်း၍ မဆုံး မီ နောက်ထပ်အမြောက် သံများ ဆက်တိုက် ရှေ့ဆင့် နောက်ဆင့် မြည်ဟည်းထွက်ပေါ်လာကြပြန်သည်။

နပိုလီယန်သည် ကိုယ်ရံတော်များနှင့်အတူ ရှီဗာ ဒီနိုခံတပ်သို့ စီးလာခဲ့ကာ မြင်းပေါ်မှဆင်းလိုက်သည်။ ဤသို့ဖြင့် ကစားပွဲကြီး စလေပြီ။

# အခန်း ၃၀

မင်းသားကလေးအင်ဒရေနှင့် တွေ့ဆုံပြီးနောက် ဂေါ်ကီရွာ သို့ ပြန်ရောက်သည့်အခါ၌ ပီယာသည် ၎င်း၏ မြင်းထိန်း ကိုခေါ်၍ မြင်းများကို အဆင်သင့်ကထားရန်နှင့် နံနက် စောစော အိပ်ရာမှ နိုးရန် မှာကြားပြီးနောက် တိုးရစ်စ် ပေးထားသည့် အခန်းကလေးထဲတွင် အိပ်ပျော်သွားလေ သည်။

နောက်တစ်နေ့နံနက် ပီယာအိပ်ရာမှ မနိုးမီ၌ကား ပီယာတည်းခိုလျက်ရှိသည့် တဲထဲမှ လူများမှာ တာဝန်အရ ထွက်ခွာသွားကြလေပြီ။ ပြတင်းပေါက်တံခါးများသည် တုန်ခါလျက်ရှိ၏။ ပီယာ၏မြင်းထိန်းသည် ပီယာကို အိပ်ရာမှ နိုးလျက်ရှိလေသည်။

"သခင်လေး သခင်လေး" မြင်းထိန်းသည် ပီယာ အား နှိုး၍ရတော့မည်မဟုတ်ဟု စိတ်ပျက်လက်လျှော့ လျက်ရှိရာက ပီယာကို ပခုံးမှကိုင်လှုပ်၍ နှိုးနေသည်။

"ဟင် ဘာလဲ တိုက်ကုန်ကြပလား၊ အချိန်ရောက် ပလား" ပီယာက ထထိုင်၍မေးလိုက်သည်။

"သခင်လေး ပစ်သံခတ်သံတွေ မကြားဘူးလား၊ တပ်မိုလ်တွေတော့ အစောကြီးကတည်းက စစ်မျက်နှာ ကို ထွက်သွားကြပြီ၊ စစ်သေနာပတိချုပ်လည်း ထွက်သွား တာ ကြာလှပြီ" တပ်သားဟောင်းတစ်ဦးဖြစ်သော ပီယာ ၏ မြင်းထိန်းက ပြော၏။

ပီယာသည် လျင်မြန်စွာ အဝတ်အစားလဲကာ အပြင်သို့ထွက်လာခဲ့၏။ ညကကျထားသော နှင်းစက်များ နှင့် နေရောင်ခြည်တို့ လုံးထွေးကာ လောကဓာတ်ကြီး

သည် နုပျိုလန်းဆန်းလျက်ရှိ၏။ တိမ်တိုက်တစ်တိုက်  ၏နောက်မှ တစ်ခြမ်းပြူ ထွက်လာစပြုသော နေမင်း၏ ရောင်ခြည်များသည် အိမ်ခေါင်မိုးများပေါ်သို့ လည်းကောင်း၊ နှင်းဖုန်းထားသဖြင့် ဖုန်သိပ်နေသော လမ်းပေါ်သို့ လည်း ကောင်း၊ အိမ်နံရံများပေါ်သို့ လည်းကောင်း၊ ပြတင်းပေါက် များပေါ်သို့ လည်းကောင်း၊ ခြံစည်းရိုးများပေါ်သို့ လည်း ကောင်း၊ တဲရှေ့တွင် ရပ်ထားသည့် ပီယာ၏မြင်းများ ပေါ် သို့လည်းကောင်း ရွှန်းလင်းစွာ ဖြာကျလျက်ရှိ၏။ အပြင် ဘက်၌ကား အမြောက်ပစ်သံများသည် ပို၍ မြည်ဟည်း နေသည်ဟု ထင်ရ၏။ ကော့ဆက် မြင်းတပ်သား တစ် ယောက် လိုက်ပါလာသည့် တပ်ရေးတစ်ယောက်သည် မြင်းကို အသားကျစီး၍ တဲရှေ့မှ ဖြတ်သွား၏။

“ါ မြို့စားလေး၊ လုပ်လေဗျာ တိုက်ကုန်ကြ ပြီ” တပ်ရေးက အော်၍ ပြော သွားသည်။

ပီယာသည် မြင်းထိန်းအား မြင်းများကို ယူလာခဲ့ ရန် မှာကြားပြီးနောက် စစ်တလင်းအား မနေ့ကကြည့်ခဲ့ ရာဖြစ်သော တောင်ပူစာကလေးဆီသို့ ထွက်လာ ခဲ့သည်။

တောင်ပူစာပေါ်၌ တပ်ဗိုလ်အချို့ စုရုံးလျက်ရှိကြပြီး စစ် ဦးစီးဌာနချုပ်အဖွဲ့ ဝင်များသည် ပြင်သစ်စကားဖြင့် တစ် ယောက် တစ်ခွန်းပြောဆိုလျက် ရှိကြသည်။ အနီကြိုးရစ် ဦးထုပ်အောက်မှ ဖွေးဖွေးဖြူလျက်ရှိသော စစ်သေနာပတိ ချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ ခေါင်းကို မြင်ရ၏။ ပြာ နှမ်းနှမ်းရှိသောလည်ကုပ် သည် ပခုံးနှစ်ဖက်ကြားတွင် မြုပ် လျက်ရှိလေသည်။ စစ်သေနာပတိချုပ်ဗိုလ်ချုပ် ကြီး ကူတူ ဇော့ဗ်သည် တောင်ပူစာပေါ်မှ စီး၍မြင်နေရသော ပေတစ် ရာလမ်းမ ကြီးဆီသို့ မှန်ပြောင်းတစ်လက်ဖြင့် ကြည့်လျက် ရှိလေသည်။

ပီယာသည် တောင်ပူစာပေါ်သို့ တက်လာခဲ့ကာ ရှေ့တွင်ရှိသောရှုခင်းကို လှမ်းမျှော် ကြည့်လိုက်မိရာက ရှုခင်း၏လှပတင့်တယ်ခြင်းကို မြင်ရသဖြင့် ငေး မောကြည့် ရှုနေမိသည်။ ထိုရှုခင်းမှာ ယမန်နေ့က ပီယာ လှမ်းမျှော် ကြည့်ရှုခဲ့သော တစ်ဝန်းတစ်လျားကြီး တည်ရှိလျက်ရှိ သည့် ရှုခင်းကျယ်ကြီးပင် ဖြစ်သည်။ ခြားနားသည်မှာ ယနေ့ရှုခင်း၌ စစ်တပ်များ ပြည့်နှက်နေခြင်းနှင့် အမြောက် မြတ ပူများမှ မီးခိုးလုံးများဖုံးလွှမ်းနေခြင်းသာ ဖြစ်သည်။ စွေစွေစောင်းစောင်း ဖြာကျ လျက်ရှိသော နေခြည်များသည် နံနက်ခင်းလေပြည်ကို ဖောက်ထွင်း၍ ထိုရှုခင်း ကျယ်ကြီး  ပေါ်သို့ ဖြာကျလျက်ရှိရာ မည်းနက်ရှည်လျားသော အရိပ် များကြား၌ နှင်းဆီသွေးနှင့် ရွှေသွေးရက်ဖောက်ထားသော နေရောင်ခြည်တန်းများသည် ခုန်ပျံ ကွန့်မြူးနေသကဲ့သို့ ရှိ၏။ ရှုခင်းကျယ်ကြီး၏အစွန်ဆုံးတွင်ရှိသော တောအုပ် သည် ပယင်းသားကို သွန်းလုပ်ထားသကဲ့သို့ ရွှေရွှေစိမ်း စိမ်း အရောင်တို့ဖြင့် တောက်ပလျက်ညီညာခြင်းမရှိသော သစ်ပင်ထိပ်ဖျားများသည် ပြာလဲ့သော ကောင်းကင်ပြင်ကို နောက်ခံပြု၍ ထင်းထင်းကြီးပေါ်လျက် ရှိ၏။ ဗာလူယေ ဗိုရွာ အလွန်၌ စစ်တပ်များ တင်းကြမ်းပြည့်နေသော စမိုး လင့်ပေတစ်ရာလမ်းမကြီး သည် တောအုပ်ထဲမှ ဖြတ်၍ ထွက်သွားသည်ကိုလည်း မြင်ရလေသည်။ တောင်ပူစာ အောက်ခြေ၌မူ ခင်တန်းကလေးများ ကွက်ကြားကွက်ကြား ရှိနေ သော ရွှေရောင်ဝင်းသည့် ဂျုံခင်းများကို မြင်ရ၏။ ရှုခင်းကျယ်ကြီးတစ်ခုလုံးမှာ မည်သည့်နေရာကိုပင် ကြည့် ကြည့် စစ်တပ်များကိုသာ မြင်နေရသည်။ ရှုခင်းကား ပီပီသသ ရှိရုံမျှမက ခမ်းလည်း ခမ်းနား၍ ရှု၍လည်း မဝ နိုင်အောင် ဖြစ်နေပေ သည်။ သို့ရာတွင် ပီယာကြည့်၍ အားမရသည့်မြင်ကွင်းမှာ ကိုလိုချာမြစ် တစ်ဖက်တစ်ချက် ရှိ လွင်ပြင်များနှင့်တကွသော ဘိုရိုဒီနိုစစ်တလင်း၏မြင် ကွင်း ဖြစ်လေသည်။

ကိုလိုချာမြစ်ရိုးတစ်ဝိုက်၌လည်းကောင်း၊ ဘိုရိုဒီနို ရွာတစ်ခို၌ လည်းကောင်း၊ ရွှံ့စပ်စပ် ကမ်းပါးနှစ်ဘက် ကြားတွင် စီးဆင်းနေသော ဗိုညာမြစ် နှင့် ကိုလိုချာမြစ် နှစ်သွယ်တို့ပေါင်းဆုံရာတစ်ဝိုက်၌ လည်းကောင်း နှင်းမြူ များသည် တဝေဝေဖွဲ့ဆိုင်းလျက် ရှိကြ၏။ နေမင်းသည် တိမ်တိုက်နောက်မှ ပြူ ထွက်လာကာ လောကဓာတ်အလုံး ကို အံ့သြဖွယ်ဆေးစုံခြယ်၍ အရောင်မှုန်း ပေးလိုက်သည့် အခါတွင်မူကား တဝေဝေဆိုင်းနေသော နှင်းများသည် တဖြည်းဖြည်းလွင့်၍ သွားကြလျက် အမြောက်များ၊ မီးခိုး လုံးများနှင့် ရောထွေး သွားကြ၏။ နေရောင်သည် နှင်းမြူ များ၊ ဘိုရိုဒီနိုရွာထဲနှင့် ကိုလိုချာမြစ်ကမ်း တစ်ဖက်တစ်ချက် ရှိ တပ်သားများ၏ လှံစွပ်ဖျားများပေါ်သို့ ဖြာကျလျက် ရှိလေရာ ထိုအရာများမှ ပြန်ဟပ်သော ဝင်းဝင်းလျှပ်လျှပ် အရောင်များသည် ရေပြင်မှ လျှပ် ပန်းလျှပ်နွယ်တို့ ထင် သကဲ့သို့ လွင်ပြင်ကြီးတစ်ဝိုက်နှင့် နှင်းမြူများအကြား တွင် တဝင်းဝင်းတလက်လက် အရောင်ထွက်လျက် ရှိ  လေသည်။ နှင်းမြူများအကြားမှ ဘုရားရှိခိုးကျောင်းဖြူဖြူ တစ်ခုကိုလည်းကောင်း၊ ဘိုရိုဒီနိုရွာထဲမှ အိမ်ခေါင်မိုးများ ကိုလည်းကောင်း၊ ထူထပ်လှသော စစ်သားထုကြီးများကို လည်းကောင်း၊ အစိမ်း ပုပ်ရောင် ခဲယမ်းမီးကျောက်သေတ္တာ ကြီးများနှင့် လက်နက်ပစ္စည်းများကို လည်းကောင်း မြင် ရသည်။ ပီယာမြင်တွေ့နေရသော ကသိုဏ်းဝန်းကြီးတစ်ခု လုံး သည် နှင်းမြူနှင့် မီးခိုးများ ပိတ်ဖုံးလျက် ရှိလေရာ မြင်မြင်သမျှ အရာဝတ္ထုတို့သည် တရွေ့ရွေ့လှုပ်ရှားနေကြ သော မီးခိုးလုံးကြီးများအောက်တွင် လိုက်ပါရွေ့လျားနေ သည်ဟု ထင်ရလေသည်။ ဘိုရိုဒီနိုရွာအနီးရှိ နှင်းမြူတို့ ဆိုင်းလျက်ရှိသော မြေပြန့် လွင်ပြင်တစ်ဝိုက်နှင့် ထိုမြေပြန့် လွင်ပြင်ကြီး၏ပတ်ဝန်းကျင်တစ်ခုဖြစ်သော လက်ဝဲဘက်ရှိ တောအုပ်များ၊ လယ်ကွင်းများ၌ကား ယမ်းခိုး ယမ်းငွေ့များ တလူ လူဝေလျက်ရှိ၏။ တစ်ခါတစ်ရံ၌ ယမ်းခိုးယမ်းငွေ့ လုံးကြီးများ တစ်လုံးချင်း တစ်လုံးချင်း ထွက်လာလျက် တစ်ကြိမ် တစ်ကြိမ်တွင်လည်း ယမ်းခိုး ယမ်းငွေ့လုံး များ စွာတို့သည် အလုံးလိုက်၊ အလိပ်လိုက် ရောထွေး ထွက် လာတတ်ကြ၏။

အချို့ယမ်းငွေ့များမှာ အငွေ့တလူလူ ထရုံသာရှိလျက် အချို့မှာလည်း ပိန်းနေအောင်မှောင်၍ ထွက်ပေါ်လာကြပြီးနောက် ယမ်းခိုးယမ်းငွေ့ချင်း ပေါင်း စပ်ကြီးထွားသွားကြကာ မြင်ကွင်းကြီးတစ်ခုလုံးကို ဖုံး အုပ်၍ သွားတတ်လေသည်။

ဤသို့ တစ်လုံးပြီး တစ်လုံးထွက်ပေါ်လာသော ယမ်းခိုးယမ်းငွေ့ လုံးကြီးများနှင့် အမြောက်ကြီးများ၏ တအုန်းအုန်းမြည်အောင် ပစ်ခတ်နေသံများသည် ရှုခင်း၏ လှပတင့်တယ်ခြင်း (ပြောမည့်သာ ပြောရသော်လည်း မပြောစကောင်းပါ။) ကိုဆောင်လျက်ပင် ရှိတော့သည်။

ဟုတ်ခနဲ မြည်သံနှင့်အတူ နီကျင့်မည်းမှောင်သော မီးခိုးလုံးတစ်လုံးပေါ်လာပြီးနောက် ပြာနှမ်းနှမ်းအရောင် သို့ ပြောင်းသွားကာ တစ်စက္ကန့်အကြာလောက်တွင် အုန်း ခနဲ မြည်ဟိန်းသံကြီး ထွက်ပေါ်လာသည်။

"ဟုတ် ဟုတ်" မြည်သံနှင့်အတူ မီးခိုးလုံးနှစ်လုံး သည် အလုအယက်တွန်းထိုးလုံးထွေးကြပြီးနောက် ပေါင်း စပ်သွားကာ "အုန်း အုန်း" ဟူသောဆက်တိုက်မြည်သံ နှစ်ခုက မျက်စိမှ မြင်ရသော အခြင်းအရာများ မှန်ကန်ကြောင်းကို သက်သေပြုလိုက်ပြန်သည်။

ပီယာသည် ထောင်းထ၍ တက်လာသော ပထမ မီးခိုးလုံးကြီးကို လှမ်းကြည့်လိုက်၏။ ခဏကြာလျှင် ထို မီးခိုးလုံးကြီးသည် ဘေးသို့ရွဲသွားပြန်ကာ "ဟုတ်ခန်" မြည် သောအသံ၊ (တခဏအကြာတွင်) "ဟုတ် ဟုတ်" ဟု မြည်သံ သုံးလေးချက် မှန်မှန်ကြီး ထွက်လာပြီးနောက် "အုန်း အုန်းအုန်း" ဟူသော နားထောင်ချင့်စဖွယ် ကျယ် လောင်သောမြည်ဟည်းသံကြီးများ ထွက်လာပြန်သည်။ တစ်ခါတစ်ရံတွင် မီးခိုးလုံးကြီးများက ပြေးသွားလျက်ရှိ သည်ဟု ထင်မှတ်ရလျက် တစ်ခါတစ်ရံတွင်လည်း မီးခိုး လုံးကြီးများက ကောင်းကင်တွင် ပန်းဆိုင်းဆွဲသကဲ့သို့ ရပ်လျက်ရှိကြပြီး မြေပြင်ရှိ တောအုပ်များ၊ ခင်တန်းများ၊ လယ်ကွင်းများ၊

လုံ့စွပ်များက ပြေးလွှားနေသည်ဟု ထင်ရ ပြန်သည်။ လက်ဝဲဘက်ဆီ၌လည်း ထို မီးခိုးလုံးကြီးများ နှင့် ၎င်းတို့နောက်တော်ပါ ကြောက်စဖွယ်မြည်ဟည်းသံ ကြီး များသည် လယ်ကွင်းများ၊ ချုံပုတ်များထဲမှ ပေါ်ထွက် လျက် ရှိကြသည်။ တောင်ပူစာနှင့် မလှမ်းမကမ်းရှိ ခင် တန်းများ၊ ကွင်းပြင်များဆီ၌မူ ကျည်တစ်လုံး ထိုးသေနတ် များမှ မီးခိုးငွေ့ ကလေးများ တလူလူထွက်လာကြကာ မီးခိုးလုံးများ အဖြစ်သို့ မရောက်မီပင် ပျောက်သွားကြ၏။ သို့ရာတွင် ထိုသေနတ်များမှ တဒက် ဒက်မြည်သံများ မှာလည်း ဆူညံလျက်ပင် ရှိပေသည်။ "ဒက် ဒက် ဒက် ဒက်၊ ဒက် ဒက် ဒက် ဒက်" ဟု မြည်သံများ ထွက်ပေါ် လျက် ရှိသော်လည်း အမြောက်မြတပူ ပစ်ခတ်သံများနှင့် နှိုင်းစာသော် အသံသေးကာ ကျိုးကျဲကျိုးမျှလောက် သာ ဖြစ်ပေ သည်။

ပီယာသည် ထိုမီးခိုးလုံးများ၊ ထိုလုံ့စွပ်များ၊ ထို လှုပ်ရှားမှုများ၊ ထိုအသံများ အနီးသို့ သွားချင်နေသည်။ ပီယာသည် မိမိဘေးပတ်ဝန်းကျင်ရှိလူများ မည်သို့ ခံစား နေရသည်ကို သိလိုသည့်အတွက် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးကူတူ ဇော့ဗ်နှင့် ကိုယ်ရံတော်များဆီသို့ လှမ်း ကြည့်လိုက်၏။ ၎င်းတို့အားလုံးသည်လည်း စစ်တလင်းဆီ သို့ မျှော်ကြည့်ကာ မိမိကဲ့သို့ စိတ်လှုပ်ရှားလျက် ရှိပုံ ရပေသည်။ ၎င်းတို့၏မျက်နှာအားလုံးပေါ်၌လည်း ယမန် နေ့က ပီယာတွေ့မြင်ခဲ့ရသော တပ်သားများ၏မျက်နှာ များကဲ့သို့ ၎ပ်လျှိုးရာမှ ကြွတက်လာသောဇာတိသွေး၊ ဇာတိမာန်နှင့် ဝင်းပြောင်နေကြသည်။

"ကဲ ဗိုလ်ချုပ်၊ ခင်ဗျားကိုယ်တိုင် သွားစမ်း၊ ခင်ဗျားကိုယ်တိုင် သွားစမ်း" စစ်သေနာပတိချုပ် ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်သည် စစ်တလင်းဆီသို့ မျှော်ကြည့် ရာမှ အနီးတွင်ရပ်နေသော ဗိုလ်ချုပ်တစ်ဦးကို ပြောလိုက်သည်။

စစ်သေနာပတိချုပ်၏အမိန့်ကိုရသည်နှင့် ဗိုလ်ချုပ် တစ်ဦးသည် ပီယာအနီး မှ ဖြတ်၍ တောင်ပူစာအောက်သို့ ဆင်းသွားလေသည်။ ကိုယ်ရံတော် တပ်ဗိုလ် ကလေးတစ်ဦး က မည်သည့်နေရာသို့သွားကြောင်း မေးမြန်းသည်တွင် “မြစ်ဆုံကို မြစ်ဆုံကို”ဟု ဖြေသံကြားလိုက်ရသည်။

ပီယာသည် ၎င်းတို့နှင့်အတူ လိုက်အံ့ဟု ဆုံးဖြတ် ကာ ဗိုလ်ချုပ်နောက်သို့ လိုက်လာခဲ့လေသည်။

ဗိုလ်ချုပ်သည် ကော့ဆက် မြင်းတပ်သားတစ် ယောက် ယူပေးသောမြင်း ပေါ်သို့ တက်လိုက်၏။ ပီယာ သည် မိမိမြင်းများကို ကိုင်ထားသည့် မြင်းထိန်းထံ သွား ကာ အငြိမ်ဆုံး၊ သန္ဓေအကောင်းဆုံးမြင်းကို ရွေးချယ်ပြီး နောက် လှသားခနဲ တက်လိုက်လျက် မြင်းလည်ဆံကို တအား ဆုပ်ကိုင်၍ မြင်း၏နံတစ်ဖက်တစ်ချက် ကို ဖနောင့်များ ဖြင့် တွန်းလိုက်သည်။ မြင်း စ၍ပြေးသည်နှင့် ပီယာ၏ မျက်မှန် သည် လျှောကျလာ၏။ ဤသည်ကို ပီယာလည်း သိ၏။ သို့ရာတွင် မြင်းလည်ဆံ နှင့် မြင်းဇက်ကို လွှတ်၍ မဖြစ်သည့်အတွက် မျက်မှန်ကျွတ်ကျွတ်နှင့်ပင် ဗိုလ်ချုပ် ကြီးနောက်မှ ဒုန်းစိုင်းလိုက်သွားလေရာ တောင်ပူစာပေါ်မှ စစ်ဦးစီးဌာနချုပ်အဖွဲ့ ဝင် တပ်ဗိုလ်များသည် ပီယာ၏ အိုးနင်းခွက်နင်း မြင်းစီးသွားပုံကိုကြည့်၍ ပြုံး ကျန်ရစ်ခဲ့ ကြလေသည်။

# အခန်း ၃၁

တောင်ပူစာအောက်သို့ ရောက်သော် ရှေ့မှစီးနေသည့် ဗိုလ် ချုပ်ကြီးသည် လက်ဝဲဘက်သို့ ချိုးသွားသဖြင့် ပီယာသည် ဗိုလ်ချုပ်ကြီးကို မျက်ခြည်ပြတ်သွား တော့လျက် မိမိ ရှေ့ မှ ချီတက်နေသော ခြေလျင်တပ်သားများကြားတွင် မြင်း ကြီး တစ်ကောင်နှင့် အထီးတည်းဖြစ်နေသည်ကို တွေ့ရ လေသည်။ ပီယာသည်

ခြေလျင်တပ်သားများကို လက်ဝဲ ဘက်မှလည်းကောင်း၊ လက်ယာဘက်မှ လည်းကောင်း ကျော်တက်သွားရန် ကြိုးစားသေးသော်လည်း နှစ်ဖက်စလုံး တွင် တင်းမာခက်ထန်သောမျက်နှာထားကြီးများကို ဆောင် ထားသည့်တပ်သားများ ပြည့်ကျပ်လျက်ရှိခြင်းကို တွေ့ရ ၏။ တပ်သားအားလုံးကပင် မိမိတို့အား မြင်းဖြင့် နင်း သတ်တော့မလောက် အရေးတကြီး ရှေ့သို့တိုးဝင်နေသော ဦးထုပ်ဖြူဆောင်း ထား၍ လူလုံးလူဖန်ထွားထွား ပီယာကို မကျေနပ်သောမျက်နှာထား၊ စူးစမ်းသော အမူအရာများ ဖြင့် လှမ်းကြည့်ကြသည်။

“ါ လူ၊ တပ်တွေ တက်နေတာ မမြင်ဘူးလားဗျ။ ဘာဖြစ်လို့ တပ်ကြားထဲ ဝင်လာရတာလဲ” တစ်ယောက်က လှမ်းအော်လိုက်သည်။

အခြားတစ်ယောက်ကမူ ပီယာ၏မြင်းကို သေနတ် ဒင်ဖြင့် လှမ်းရိုက် လိုက်၏။ ပီယာ၏မြင်းမှာ လန့်၍ခုန် ပေါက်နေပြီဖြစ်ရကား ပီယာသည် မြင်းပေါ်မှ မကျအောင် မြင်းကုန်းပေါ်တွင် ပြားဝပ်၍ ကပ်ထားရာက တပ်သား ခပ်ကျဲကျဲရှိ နေသောနေရာဆီသို့ အတင်းစီးလာခဲ့သည်။

ရှေ့တွင် တံတားတစ်ခုရှိရာ ထိုတံတားထိပ်၌ တပ် သားများသည် ပစ်ခတ် ခြင်းမပြုကြတော့ဘဲ ရပ်လျက်ရှိ ကြ၏။ ပီယာသည် တံတားထိပ်သို့ လာခဲ့သည်။ ပီယာ သည် ဘာမျှမသိဘဲ မြင်းကို အရမ်းစီးလာခဲ့ရာမှ ထို တံတားထိပ်သို့ ရောက်လာခဲ့ခြင်း ဖြစ်၏။ ထိုတံတားမှာ ကိုလိုချာမြစ်တစ်ဖက်ကမ်းဆီရှိ ဘိုရိုဒီနို ရွာနှင့် ဂေါ်ကီရွာ ကို ကူးထားသည့်တံတားဖြစ်၍ (ယခုအချိန်တွင် ဘိုရိုဒီနို ရွာကို သိမ်းပိုက်ပြီးဖြစ်သော) ပြင်သစ်တပ်များ၏ ပထမဆုံး စတင် တိုက်ခြင်းခံနေရ သောနေရာ ဖြစ်၏။ တံတားထိပ် တစ်ဖက်တစ်ချက်တွင် လည်းကောင်း၊ တံတား ထိပ် ဘေး တစ်ဖက်တစ်ချက်ရှိ မြက်တော၊ ကိုင်းတောများကြားထဲ တွင် လည်းကောင်း၊ စခန်းမီးပုံမှ မီးခိုးများကြောင့် မနေ့က မမြင်ခဲ့မိသော ရိတ်ပြီးစ

ကောက်လှိုင်းပုံများကြားတွင် လည်းကောင်း တပ်သားများသည် တလှုပ်လှုပ် လှုပ်ရှား နေကြ၏။ ဤနေရာတစ်ဝိုက်တွင် ပစ်ခတ်သံများသည် ဝက်ဝက်ကွဲမျှ ဆူညံလျက်ရှိသော်လည်း ထိုနေရာသည် အပြင်းအထန်တိုက်ပွဲဖြစ်နေသော စစ်တလင်းဖြစ်သည်ဟု ပီယာ ရိပ်စားမိခြင်း မရှိသေးချေ။ ပီယာသည် မိမိ၏အနီးမှ တရှိုးရှိုးဖြတ်သန်းသွားသော ကျည်ဆန်များကိုလည်း ဂရုမမူ မိ။ မိမိအထက်မှ တဝီဝီပျံသန်းသွားသော အမြောက်သံ များကိုလည်း မကြားမိ။ တစ်ဖက်ကမ်း တံတားထိပ်မှ မိမိ ဖြစ်  တို့ဘက်သို့ သဲသဲမဲမဲပစ်နေကြသော ရန်သူများကိုလည်း မမြင်မိ။ မိမိအနီးမှ တပ်သားများ တဖြုတ်ဖြုတ် ကျဆုံး ကုန်၍ အနီးတွင် ကျဆုံးသူ၊ ဒဏ်ရာရသူများ ပြန့်ကျဲလျက် ရှိခြင်းကိုလည်း သတိမထားမိ။ ထုံးစံအတိုင်း ခပ်ပြုံးပြုံး ပင် ပတ်ဝန်းကျင်ကို လှမ်းကြည့်လျက် ရှိလေသည်။

"ဟော့လူ သေချင်လို့လား၊ ဘာဖြစ်လို့ စစ်ကြောင်း ထိပ်မှာ ပြူးပြူးကြီး ရပ်နေတာလဲ" တစ်ယောက်က လှမ်း အော်ပြန်သည်။

"ဟော့လူ၊ ဘေးဖယ်နေဗျ၊ ဘေးကို၊ သေသွားလိမ့် မယ်" ဝိုင်း၍ အော်ကြပြန်သည်။

ပီယာက လက်ယာဘက်သို့ ရှောင်ပေးလိုက်သည် တွင် ဗိုလ်ချုပ်ရေစကီ၏ တပ်ရေးဖြစ်သူ မိမိမိတ်ဆွေတစ် ယောက်နှင့် မမျှော်လင့်ဘဲ ပက်ပင်းတိုးနေလေသည်။ တပ်ရေးသည် ပီယာကို စိတ်ဆိုးမာန်ဆိုးဖြင့် ကြည့်လိုက် ကာ အော်ထုတ်လိုက်မည်ပြုပြီးမှ မိမိ မိတ်ဆွေမှန်းသိ သဖြင့် ခေါင်းညိတ်၍ ခေါ်လိုက်၏။

"ါ ရောင်းရင်း၊ ဘယ့်နှယ် ဒီကို ရောက်လာ တာလဲ" တပ်ရေးသည် ပီယာကိုနှုတ်ဆက်ကာ မြင်းကို ဒုန်းစီးသွား၏။

ပီယာသည် ထိုနေရာတွင် အနေရကျပ်ကာ ဘာမျှ လုပ်ရန်မရှိသည့်ပြင် တပ်များရှေ့တွင် ကန့်လန့် ဖြတ်နေမည်စိုးပြန်သည့်အတွက် တပ်ရေးထံသို့ မြင်းကို

ဒုန်းစီး၍ လိုက်လာခဲ့သည်။

“ဒီနားမှာ ဘာဖြစ်နေကြတာလဲဗျ ရောင်းရင်း၊ ကျွန်တော်ကော ခင်ဗျားနဲ့ လိုက်လာလို့ရမလား”

“ခဏနေဦးဗျာ” တပ်ရေးသည် ပီယာအား ဤမျှ သာပြောကာ စားကျက်ထဲတွင် ရပ်နေသော အရပ် ထောင်ထောင်မောင်းမောင်း ဗိုလ်မှူးကြီးတစ်ဦးထံသို့ သွား ကာ သတင်းပို့ပြီးမှ ပီယာထံ ပြန်လာခဲ့သည်။

“မြို့စားလေးက ဒီကို ဘာကိစ္စ ရောက်လာတာ လဲ၊ ဘာလဲ ရောင်းရင်းက ဗဟုသုတ ရှာတုန်းပဲလား” တပ်ရေးက ပြုံး၍ မေးလိုက်သည်။

“ဆိုပါတော့”

တပ်ရေးသည် ၎င်း၏တပ်သို့ပြန်ရန် မြင်းဇက်ကို ဆွဲလိုက်သည်။

“ဒီနေရာက တိုက်ပွဲ သိပ်မပြင်းထန်သေးဘူးဗျ။ လက်ဝဲတောင်ပံက ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်းဦးစီးတဲ့ စစ်မျက်နှာမှာတော့ တိုက်ပွဲအကြီးအကျယ် ဖြစ်နေတာပဲ”

“ဟုတ်လား ဘယ်နေရာမှာလဲဗျ”

“လာ ကျွန်တော်တို့ တပ်စွဲထားတဲ့ တောင်ပူစာ လေးဘက်ကို လိုက်ခဲ့၊ အဲဒီကနေကြည့်ရင် အကုန် မြင်ရ တယ်၊ ကျွန်တော်တို့ အမြောက်တပ်စု စွဲထားတဲ့ နေရာမှာ တော့ သိပ်အန္တရာယ် မရှိလှသေးပါဘူး၊ လိုက်ကြည့်ပါ လား”

“အေးဗျာ၊ ဒါဖြင့် ကျွန်တော်လိုက်ခဲ့ဦးမယ်” ပီယာသည် ပတ်ဝန်းကျင်တွင် ၎င်း၏မြင်းထိန်းကို လိုက်ရှာ နေသည်။

ထိုအခါကျမှ ဒဏ်ရာရ၍ ဒယီးဒယိုင်လျှောက် လာပြီး လဲကျသွားသူများ ထမ်းစင်ပေါ်တွင် ပက်လက် ပါသွားသူများကို ပီယာ သတိထားမိတော့သည်။ ယမန် နေ့က မြင်းတစ်စီးဖြင့် သူလှည့်ပတ်ကြည့်ရှုခဲ့သော စား ကျက်ထဲရှိ မြက်ထုံး များကြား၌ တပ်သားတစ်ယောက် သည် ပက်လက်ကြီးလဲကျလျက်ရှိ၏။

"ဒီလူကို ဘာဖြစ်လို့ သယ်မသွားကြတာလဲဗျ" ဟု ပီယာက မေးမည်ပြုသေး သော်လည်း ထိုတပ်သားရှိရာ သို့ တင်းမာခက်ထန်သော မျက်နှာထားဖြင့် ကြည့် နေသော တပ်ရေးကိုမြင်သဖြင့် မမေးတော့ဘဲ ချုပ်တည်းထားလိုက် သည်။

ပီယာသည် မြင်းထိန်းကို ရှာမတွေ့တော့သည့် အတွက် တပ်ရေးနှင့်အတူ စားကျက်ထဲမှ ဖြတ်၍ ရေစကီ ခံတပ်ဆီသို့ စီး၍လာခဲ့သည်။ ပီယာ၏မြင်းမှာ တွန့်ဆုတ် တွန့်ဆုတ်ဖြစ်နေသဖြင့် နောက်ကျ၍ ကျန်ရစ်ခဲ့လေ သည်။

"မြို့စားလေးက မြင်းစီးနေကျ မဟုတ်ဘူး ထင် တယ်" တပ်ရေးက ပြော လိုက်၏။

"မဟုတ်ပါဘူးဗျာ မြင်းကြောင့်ပါ၊မြင်းကကောင်း ကောင်းကို မသွားဘူး၊ တွန့်ဆုတ် တွန့်ဆုတ်နဲ့" ပီယာ က ခပ်ရှက်ရှက်ဖြင့် ဖြေလိုက်သည်။ "

"အလို မြို့စားလေးမြင်းက ဘယ်မှာ ကောင်း ကောင်းသွားတော့မလဲဗျ၊ လက်စသတ်တော့ ရှေ့ခြေ ထောက် ဒူးခေါင်းအထက်မှာ ကျည်သင့်လာတာကိုး၊ ဟဲ ဟဲ၊ မြို့စားလေးတို့တော့ ပွဲတိုးသွားပြီဗျ" တပ်ရင်းက  ပြောလိုက်သည်။

၎င်းတို့နှစ်ယောက်သည် ဆဋ္ဌမမြောက်တပ်ဖွဲ့ ကို လွှန်ကာ မီးခိုးလုံးများ ကြားထဲမှ ဖြတ်၍ စီးလာခဲ့ကြပြီး ထိုမှတစ်ဖန် နားကွဲလုမတတ် မြည်ဟည်းသံကြီး များ ဖြင့် ရှေ့သို့တက်၍ ရန်သူစစ်ကြောင်းကို သဲသဲမဲမဲ ပစ် ခတ်နေသော အမြောက်ကြီးတပ်နောက်ဖျားမှ ဖြတ်ကာ ခင်တန်းကလေးတစ်ခုသို့ ရောက်လာခဲ့

ကြ၏။ ခင်တန်း ကလေးတစ်ဝိုက်တွင်ကား နွေနှောင်းရာသီ၏အနံ့အသက် များကြောင့် တိတ်ဆိတ်အေးမြလျက် ရှိပေ၏။ ပီယာနှင့် တပ်ရေးသည် မြင်းပေါ်မှ ဆင်းကာ တောင်ပူစာကလေး ပေါ်သို့ တက်လာခဲ့ကြသည်။

"ဟေ့ ရဲဘော်တွေ ဗိုလ်ချုပ်ကြီး ဒီမှာရှိသလား" တပ်ရေးက မေးလိုက်သည်။

"ခုနကတော့ ရှိတယ်ခင်ဗျ၊ ခုတော့ ဟိုဘက် ထွက်သွားပြီ" တပ်သားတစ်ယောက်က လက်ယာဘက် သို့ညွှန်၍ ပြောလိုက်၏။

တပ်ရေးသည် ပီယာအားခေါ်၍ လာခဲ့ရသော် လည်း တောင်ပူစာပေါ်ရောက်လျှင် ဘာလုပ်ရမည် မသိ တော့ဘဲ ပီယာကိုအားနာဟန်ဖြင့် လှမ်း၍ကြည့်လိုက်သည်။

"ကျွန်တော့်အတွက်တော့ ဘာမှ အနှောင့်အယှက် ဖြစ်မနေနဲ့နော်၊ လုပ်စရာ ရှိတာသာလုပ်၊ ကျွန်တော် တောင် ပူစာပေါ် တက်ကြည့်ဦးမယ်၊ တက်ကြည့်လို့ ကော ရတယ် မဟုတ်လား"

"ရပါတယ် ကြည့်ချင် ကြည့်ပါ၊ အဲဒီကနေ ကြည့် ရင် ဘာမှ အန္တရာယ်မရှိဘူး၊ အကုန်လဲ မြင်ရတယ်၊ ကျွန်တော်တော့ ခဏနေမှ ပြန်လာခဲ့မယ်"

ပီယာသည် တောင်ပူစာထိပ်ရှိ အမြောက်တပ်စု စွဲထားသောနေရာသို့ လာခဲ့၏။ တပ်ရေးမှာ မြင်းနှင့် ထွက်သွားလေသည်။ ပီယာနှင့် တပ်ရေးတို့သည် နောက် ထပ် မတွေ့ကြရတော့ချေ။ တပ်ရေးမှာ ထိုနေ့က တိုက်ပွဲ တစ်ဖက်ပြတ် သွားသည်ဟု နောက်၌ သိရလေသည်။

ပီယာတက်လာခဲ့သောတောင်ပူစာမှာ နောင်တွင် ရုရှားတပ်များအဖို့ မြတာပူကုန်း သို့မဟုတ် ရေစကီခံတပ် ဟု နာမည်ကျော်လာ၍ ပြင်သစ်တပ်များအဖို့ မဟာခံတပ်၊ သို့မဟုတ် အသေခံ ခံတပ်၊ သို့မဟုတ် ဗဟိုခံတပ်ဟု အမည်တွင်

သောနေရာဖြစ်လျက် တပ်သားထောင်ပေါင်း များစွာ ကျဆုံးခဲ့သောနေရာလည်း ဖြစ်လေသည်။ ပြင်သစ် တပ်များက ထိုနေရာသည် ရှုရှားခံစစ်ကြောင်းတစ်ခု လုံး၏ အချက်အချာဖြစ်သည်ဟု ယူဆကြလေသည်။

ထိုခံတပ်၌ တောင်ပူစာကလေးတစ်လုံးရှိလျက် တောင်ပူစာ၏မျက်နှာသုံး ဘက်တွင် ကတုတ်ကျင်းများ တူးထား၏။ ကတုတ်ကျင်းများထဲတွင် အမြောက် ဆယ် လက်ကို နေရာချထားပြီး ကတုတ်ပေါက်မှနေ၍ ထို အမြောက်ကြီးများဖြင့် ရန်သူများကို ပစ်ခတ်ခဲ့ခြင်း ဖြစ် လေသည်။

တောင်ပူစာ၏လက်ဝဲဘက်နှင့် လက်ယာဘက် တစ်တန်းတည်းတွင်လည်း အမြောက်မြတပ္ပမျာများကို နေရာ ချကာ ထိုအမြောက်မြတပူများဖြင့် ရန်သူများကို အဆက် မပြတ် ပစ်ခတ်ခဲ့ကြသည်။ အမြောက်များ၏နောက်၌ ခြေလျင်တပ်များ က တပ်စွဲထားကြ၏။ ပီယာသည် တောင် ပူစာပေါ်သို့တက်၍ လာခဲ့စဉ်က ကတုတ်ကျင်းငယ်များ ပတ်လည်ဝိုင်းလျက် အမြောက်သံများ တအုန်းအုန်းမြည် နေသည့် ဤတောင်ပူစာကလေးသည် ဘိုရိုဒီနိုတိုက်ပွဲ တွင် အရေးအကြီးဆုံးသော အချက်အချာနေရာ ဖြစ်လာ လိမ့်မည်ဟု လုံးဝမမျှော်လင့်ခဲ့ချေ။

ထိုသို့ မမျှော်လင့်ရုံမျှမက ထိုနေရာသည် စစ် မြေပြင်တစ်ခုလုံးတွင် အရေး ပါ အရာရောက်ခြင်း မရှိသော နေရာကလေးတစ်ခုဖြစ်လိမ့်မည် ထင်မိသဖြင့် လာ ရောက် ခဲ့ခြင်းသာ ဖြစ်လေသည်။

တောင်ပူစာပေါ်သို့ ရောက်လျှင် ပီယာသည် အမြောက်တပ်စုပတ်ပတ်လည် တွင် တူးထားသည့် ကတုတ် ကျင်းအဝ၌ ဝင်ထိုင်လိုက်ပြီး အလိုလိုရွှင်မြူးလျက်ရှိ သော အပြုံးမျိုးဖြင့် ဘေးပတ်ဝန်းကျင်ကို လှမ်းမျှော်ကြည့်နေ သည်။ တစ်ခါတစ်ရံ၌လည်း ထိုင်ရာမှထကာ အမြောက် များထဲသို့ ယမ်းသိပ်နေသော တပ်သားများ၊ အမြောက် များကို ဆွဲတင်နေသောတပ်သားများ၊ ယမ်းအိတ်များကို

သယ်ကာ မိမိအနီးမှ ပြေးသွားကြကာ တပ်သားများကို အနှောင့်အယှက်မဖြစ်အောင် ရှောင်ရှားလျက် အမြောက် တပ်စုပတ်ဝန်းကျင်ကို ခပ်ပြုံးပြုံးပင် လျှောက်ကြည့်နေ တတ်သည်။ ထိုအမြောက်တပ်စုမှ အမြောက် မြတပူကြီး များမှာ တစ်လက်ပြီး တစ်လက် နားကွဲလုမတတ် မြည်  ဟည်းသောအသံကြီးများဖြင့် အနားမပေးဘဲ တရစပ်ပစ် ခတ်လျက်ရှိလေရာ ယမ်းငွေ့ ယမ်းခိုးများသည် ထိုနေရာတစ်ဝိုက်ကို ပိတ်ဖုံးလျက် ရှိလေသည်။

တောင်ပူစာထိပ်ရှိ “ မိမိတို့ အမြောက်တပ်စုကို ကူပစ်ပေးနေသည့် ခြေလျင်တပ်သားများမှာ တုန်လှုပ် ချောက်ချားနေကြသလောက် ကျန်တပ်သားများအားလုံးနှင့် ကတုတ်ကျင်းခြားလျက် တရစပ် ပစ်ခတ်နေကြသော ဤအမြောက်တပ်စုမှ တပ်သားအားလုံးမှာ တစ်ယောက်မကျန် စိတ်ဓာတ်ရွှင်လန်းမြူးထူးလျက်ရှိလေရာ ၎င်းတို့၏ရွှင် လန်းမြူးထူးခြင်းမှာ အေးအတူ ပူအမျှ ခွဲဝေခံစားတတ် သော အိမ်ထောင်စုတစ်ခု၏ ရွှင်လန်းမြူးထူးခြင်းနှင့်ပင် တူတော့သည်။

အစပထမတွင် တပ်သားများသည် စစ်သားရုပ် စစ်သားဟန်ဆို၍ နည်းနည်းကလေးမျှ မရှိသော ပီယာ ၏သဏ္ဍာန်က မိမိတို့ကြားထဲသို့ ချဉ်းနင်းဝင်ရောက်လာ ခြင်းကြောင့် မကျေနပ်ဟန်ကို ပြကြ၏။ ပီယာအနီးမှ ဖြတ်သွားကြတိုင်း တပ်သားများသည် အံ့အားသင့်သော အမူအရာ၊ စိုးရိမ်သောမျက်နှာထားများဖြင့် စောင်းငဲ့ကြည့် ရှုသွားကြ၏။ အရပ်မြင့်မြင့် ခြေတံရှည်ရှည် ကျောက် ပေါက်မာသက်သက်နှင့် အမြောက်တပ်ဗိုလ်တစ်ယောက် သည် အစွန်ဆုံးမှပစ်ခတ်လျက်ရှိသော အမြောက်မြတပူ ကို လာရောက်ကြည့်ရှုဟန်ဖြင့် ပီယာ့အနားသို့ ရောက် လာကာ ပီယာကို အကဲခတ်လျက်ရှိ၏။

အမြောက်မြတပူနှစ်လက် ကွပ်ကဲကြီးကြပ် အမိန့် ပေးလျက်ရှိ၍ ဗိုလ်သင်တန်းမှ ဆင်းပြီးစဖြစ်ဟန်တူလျက် လူပျိုပေါက်ကလေးမျှသာ ရှိသေးသော မျက်နှာဝိုင်းဝိုင်း နှင့် တပ်ဗိုလ်ကလေးက ပီယာကို လှမ်း၍

”ါ နောင်ကြီး၊ ကျေးဇူးပြုပြီး ဘေးဖယ်ဗျ၊ ဒီနားကို မလာနဲ့” ဟု ခပ်ဆတ်ဆတ်ကလေး ပြောလိုက် သည်။

တပ်သားများသည် ပီယာကိုကြည့်၍ စိတ်ပျက် လက်ပျက်ဖြင့် ခေါင်းယမ်းလိုက်ကြသည်။ သို့ရာတွင် ဦးထုပ်ဖြူဆောင်းထားသည့် ဤအရပ်သားသည် မိမိတို့အား ဘာမျှ အန္တ ရာယ်ပေးခြင်း မရှိရုံမျှမက ရက်ကြောက် အားနာသည့်အပြုံးမျိုးဖြင့် ကတုတ်ကျင်း နှုတ်ခမ်းပေါ်တွင် ငြိမ်သက်စွာ ထိုင်နေခြင်း၊ တပ်သားများအား အလိုက်သိ  စွာဖြင့် လမ်းဖယ်ပေးခြင်း၊ တအုန်းအုန်းပစ်ခတ်နေသော အမြောက်ကြီးများအောက်တွင် ညနေခင်း လေညင်းခံ ထွက်သည့်ပမာ အေးအေးဆေးဆေး လမ်းလျှောက်နေခြင်း စသည်တို့ကို မြင်ရသည့်အခါ တပ်သားများ၏စိတ်ထဲ၌ ခပ်စောစောက မျက်မုန်းကျိုးသလိုလို ရှိခဲ့ခြင်းများသည် ပျောက်ကွယ်သွားခဲ့ကြလေပြီ။ တပ်ထဲတွင် မိမိတို့နှင့် အတူလိုက်ပါနေသော ခွေးကလေး၊ ကြက်ကလေးများ၊ ဆိတ်ကလေးများ စသည့် တိရစ္ဆာန်ကလေးများကို ခင် တွယ်တတ်ကြသည့် စစ်သားများ၏ထုံးစံအတိုင်း ပီယာကို ခင်တွယ်သနားစ ပြုလာခဲ့ကြလေပြီ။ ခဏကြာလျှင်ကား တပ်သားများသည် ပီယာအား ၎င်းတို့လူသိုက်ထဲမှ လူ တစ်ယောက်အဖြစ် အသိအမှတ်ပြု မွေးစားလိုက်ကြကာ “ဆရာလေး” ဟူသောနာမည်သစ်ကို ပေးလိုက်ကြလျက် ပီယာအကြောင်းကို အချင်းချင်း ပြောဆိုရယ်မောလျက် ရှိကြလေသည်။

ရန်သူ့အမြောက်ဆန်တစ်ခုသည် ပီယာနှင့် နှစ် လှမ်းကွာလောက်တွင် ကျလာသဖြင့် မြေကြီးများ ဖွာထွက် သွား၏။ ပီယာက ၎င်းကိုယ်ပေါ်သို့ တင်လာ

သော ဖုန်မှုန့် များကိုခါရင်း ဘေးပတ်ဝန်းကျင်ကို ပြုံး၍ကြည့်လိုက်၏။

“ါ ဆရာလေး မကြောက်ဘူးလားဗျ” မျက်နှာ နီနီ ပခုံးကျယ်ကျယ်နှင့် တပ်သားတစ်ဦးက ဖြူဖွေးသော သွားများတစ်စုံလုံးပေါ်လာအောင်ဖြိုးပြ၍ မေး လိုက်၏။

“ခင်ဗျားကော ကြောက်သလား” ပီယာက ပြန် မေးလိုက်သည်။

““အတင့်မရဲနဲ့ဗျာ နော် ဆရာလေး၊ ဒီကောင်က သိပ်လူရွေးတာ မဟုတ်ဘူး၊ မကြောက်ဘဲ ရှိပါ့မလား၊ ကျွန်တော်တို့ဖြင့် ဒီကောင် တဝီဝီအော်ဆင်းလာပြီဆိုရင် အသည်းတွေ၊ ကလီစာတွေ တုန်နေတာပဲ” တပ်သားက ရယ်၍ပြောလိုက်သည်။

ဝင်းထိန်၍ ကြင်နာသောအမူအရာကို ပြလျက်ရှိ သည့်မျက်နှာများဖြင့် တပ်သားများသည် ပီယာအနီးတွင် ဝိုင်းအုံလျက် ရှိကြသည်။ ၎င်းတို့သည် အရပ်သားတစ် ယောက်က စစ်သားများကဲ့သို့ အကြောက်အလန့်မရှိဖြစ် နေခြင်း ကို အံ့သြနေကြသည်။ ယခုကဲ့သို့ အကြောက် ( အလန့်မရှိသော အရပ်သားတစ် ယောက်ကို စစ်သားများ ကြားတွင် ထူးထူးဆန်းဆန်း လာတွေ့နေရသဖြင့်လည်း သဘောကျနေကြသည်။

“ကျွန်တော်တို့ စစ်သားဆိုတာကတော့ ထားပါ တော့ဗျာ၊ ဒါပေမဲ့ အရပ်သား တစ်ယောက်က ဒီလို အကြောက်အလန့် မရှိတာမျိုးကတော့ ထူးရောဗျ၊ ထူးရော”

“ဟေ့ ရဲဘော်တွေ ကိုယ့်နေရာ ကိုယ်ပြန်ကြပါ။ ဘာဖြစ်လို့ အဲဒီနားမှာ အုံ နေရတာလဲ” တပ်ဗိုလ်ကလေး 'က ပီယာအနီးတွင် ဝိုင်းအုံနေသော တပ်သားများ ကို အော်လိုက်သည်။

တပ်ဗိုလ်ကလေးမှာ ဗိုလ်သင်တန်းမှ ဆင်းကာ တာဝန်ကို စတင်ထမ်းရွက် ခါစဖြစ်၍ အထက်လူကြီးများ ကို ဆက်ဆံရာတွင် လည်းကောင်း၊ အောက်လက်

ငယ် သားများကို ဆက်ဆံရာတွင် လည်းကောင်း ထုံးစံအတိုင်း တိတိကျကျ ဆောင်ရွက်လေ့ရှိသည်။

အမြောက်မြတပူများ၏ တအုန်းအုန်း ပစ်ခတ်သံ၊ ကျည်တစ်လုံးထိုး သေနတ်များ၏ တဖောက်ဖောက်မြည် သံများမှာ စစ်မြေပြင်တစ်ခုလုံးတွင် ပိုမို၍ ပြင်းထန်လာ သည်။ ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်း ကွပ်ကဲ တိုက်ခိုက် လျက်ရှိသည့် လက်ဝဲတောင်ပံ ကတုတ်ကျင်းများဆီ၌ ကား ဖျော်ဖျော် ပစ်ခတ်သံတို့သည် ပို၍ ပြင်းထန်၏။ သို့ရာတွင် ပီယာတို့နေရာမှ ကြည့်လျှင်ကား အမြောက် မြတပူများမှ မီးခိုးလုံးများကြောင့် မည်သည့်အရာကိုမျှ သဲကွဲစွာ မမြင်ရချေ။ ပီယာကိုယ်နှိုက်က လည်း အခြား အရာများထက် တစ်စုတည်း တသီးတခြားတည်း ဖြစ်နေ သော အမြောက်တပ်စု "အိမ်ထောင်စု'ကလေးကိုသာ စိတ်ပါဝင်စားစွာ ကြည့်နေသည်။ စစ်တလင်း၏မြင်ကွင်း များ၊ အသံဗလံများကို ကြည့်၍ ဖြစ်ပေါ်လာသော ပီယာ၏' စိတ်အားထက်သန်ခြင်းသည်လည်း စားကျက်ထဲတွင် လဲနေသည့်တပ်သားကို မြင်ခဲ့ရကတည်းက တစ်မျိုးတစ်ဖုံ ပြောင်းလဲလာခဲ့လေပြီ။ ယခုအချိန်တွင် ပီယာသည်ကတုတ် ကျင်းဝ၌ ထိုင်ကာ မိမိအနီးရှိ တပ်သားများ၏မျက်နှာ များကို တစ်လှည့်စီ ကြည့်လျက် ရှိသည်။

ဆယ်ချက်တီးအချိန်လောက်၌ကား တောင်ပူစာ ပေါ်ရှိ အမြောက်တပ်စု၌ လူနှစ်ဆယ်ကျဆုံးခဲ့လေပြီ။ အမြောက်ကြီးနှစ်လက်မှာလည်း လုံးလုံးပျက်စီးသွားခဲ့ လေပြီ။ ရန်သူ့အမြောက်သည်များမှာ အမြောက်တပ်စု ပေါ်သို့ အကျစိပ်လာကာ တအုန်းအုန်းပေါက်ကွဲလျက်  ရှိပြီး သေနတ်ကျည်ဆန်များကလည်း အနီးတွင် တရွှီရွှီ တဝီဝီ အော်မြည်ပျံဝဲလျက်ရှိကြ၏။ သို့ရာတွင် အမြောက် တပ်သားများကား ဤအခြင်းအရာများကို အမှုထားကြ ဟန် မရှိဘဲ တစ်ဦးနှင့် တစ်ဦး အော်ဟစ် နောက်ပြောင် ကျီစယ်လျက် ရှိကြသည်။

“လာပြန်ပြီဟေ့ တစ်လုံး” ရန်သူ့အမြောက်ကျည် တစ်လုံး တရှဲ ရှဲ အော်၍ ကျလာသဖြင့် တပ်သားတစ် ယောက်က အော်ပြောလိုက်သည်။

“ဟေ့ တို့အနားမှာ မကျပါဘူးကွ၊ ခြေလျင် တပ်ထဲ သွားကျမှာပါ” မိမိတို့ အပေါ်ဖြတ်သန်း၍ တောင်ပူ စာနောက်ရှိ ခြေလျင်တပ်ထဲသို့ ကျသွားသော အမြောက် ဆန်ကိုကြည့်နေရာက ခွက်ထိုးခွက်လှန်ရယ်ရင်း ပြော လိုက်သည်။ - လယ်သမား တစ်ယောက်သည် မိမိခေါင်းထက် တွင် အမြောက်ကျည်ဆန်တစ်လုံး ဖြတ်သန်းသွားသဖြင့် ခေါင်းကို ငုံ့ထားလိုက်သည်။

“ါ ဦးကြီး ဘာလုပ်တာလဲဗျ၊ ခင်ဗျားမိတ်ဆွေ ကြီးကို ဦးညွှတ်အရိုအသေ ပေးနေတာလား” တပ်သား တစ်ယောက်က လှမ်းနောက်လိုက်၏။

တပ်သားများသည် ကတုတ်ကျင်းမှ ခေါင်းပြူ ကာ အပြင်ကို လှမ်းကြည့်နေ ကြ၏။

“ဟေ့ ရှေ့တန်းစစ်ကြောင်းကို ရုပ်သွားပြီကွ၊ ခွေးသားတွေ ဆုတ်ပြီထင် တယ်” တပ်သားတစ်ယောက် က ကတုတ်ကျင်းနှုတ်ခမ်းရှိ မြေစာပုံများပေါ်မှ ကျော်၍ လက်ညှိုးထိုးပြ၏။

“ဟေ့ကောင် ကိုယ့်အလုပ် ကိုယ်လုပ်၊ မင်းအဘ တွေ ဆုတ်သွားတာ အကောင်းဆုတ်သွားတာ မဟုတ် ဘူးကွ၊ အကြံတစ်ခုခုရှိလို့ သိရဲ့ လား” အသက် ခပ်ကြီးကြီး တပ်ကြပ်ကြီးတစ်ဦးက ငေါက်လိုက်သည်။

တပ်ကြပ်ကြီးသည် တပ်သားတစ်ယောက်ကို ပခုံး မှဆွဲကိုင်၍ ဒူးဖြင့် တစ်ချက်တိုက်လိုက်သောကြောင့် ဝါး ခနဲ ပွဲကျသွားကြသည်။

“ဟေ့ နံပါတ် ၅ အမြောက်ကို တင်စမ်းဟေ့” ၊ တစ်ဖက်က အော်သံများကို ကြားရသည်။

“ဟော့ ယောကျ်ားဘသားကွ၊ ကြိတ်ပေးကွ” ( အမြောက်ကို ခင်တိတ်ပေါ်သို့ တင်နေသော တပ်သားများ ၏အော်သံများ ထွက်ပေါ်လာသည်။

“အလယ်လယ်၊ ကျုပ်တို့ ဆရာလေးရဲ့ ဦးထုပ်ကို ထိတော့မလို့ဗျ ကံကောင်းလို့” မျက်စိနီနီ ပခုံးကျယ် ကျယ်နှင့် ခပ်ရွတ်ရွတ်တပ်သားက သွားများ ဖိ၍ ပြော လိုက်သည်။ “ဒီကောင် တော်တော်သရမ်းတဲ့ကောင်” တပ်သားသည် အမြောက်ခင်တိတ်ဘီးတစ်ဖက်နှင့် တပ် သားတစ်ယောက်ကို ထိမှန်ပေါက်ကွဲ သွားသော ရန်သူ အမြောက်ကျည်တစ်လုံးကို ကြည့်၍ ပြောလိုက်သည်။

“ဟော့ မြေခွေးတွေ၊ ဒီလောက် ကြောက်ရသလား” အရေးပေါ်စစ်သည်စု တပ်ဖွဲ့ဝင်အချို့က ဒဏ်ရာရသူကို ကောက်ရန် အမြောက်များအနီးသို့ ကြောက် ကြောက်ဖြင့် ခပ်ကုန်းကုန်းလုပ်၍ ပြေးလာကြသည့်အတွက် တပ်သား တစ် ယောက်ကရယ်ကာ ပြောဆိုလိုက်သည်။

“ဟော့ ခွေးသားတွေ၊ ကောက်ယူသွားပါလားကွ၊ ဘာ ကြောက်ဆုတ် ကြောက်ဆုတ် လုပ်နေရတာလဲ” တပ်သားများက ခြေပြတ်နေသည့် တပ်သား အနီးတွင် မရွံ့ မရဲရပ်နေသည့် အရေးပေါ်စစ်သည်စု တပ်ဖွဲ့ဝင်များကို မာန် နေသည်။

ခံတပ်ပေါ်သို့ ကျည်တစ်လုံး ကျလာတိုင်း၊ တပ် သားတစ်ယောက် ကျဆုံး သွားတိုင်း တပ်သားများမှာ ပိုမို ထက်သန်လာကြသည်ကို ပီယာ သတိထား မိသည်။

မည်းမှောင်ညိုမှိုင်းသော လျှပ်စစ်တိမ်တိုက်များ ကြားထဲတွင် ခိုအောင်းနေ သော လျှပ်ပန်းလျှပ်နွယ်တို့ သည် တိမ်တိုက်များ တဖြည်းဖြည်း နီးလာသည်နှင့် အမျှ တဝင်းဝင်း တလျှပ်လျှပ် ပိုမို၍ ဖြိုးပြက်ဝင်းလက်လာကြ သကဲ့သို့ တိုက်ပွဲ ပြင်းထန်လာသည်နှင့်အမျှ တပ်သား များ၏ရင်ထဲတွင် ကိန်းဝပ်လျက်ရှိသော စိတ်

အားထက် သန်ခြင်း မီးအလျှံတို့သည်လည်း ၎င်းတို့၏မျက်နှာများ ပေါ်တွင် ပိုမို ပြင်းထန်စွာ တောက်ပလာကြလေသည်။

ပီယာသည် စစ်မြေပြင်သို့ လှမ်း၍ မျှော်ကြည့် ခြင်းလည်း မရှိ။ ထိုနေရာ တွင် ဖြစ်ပျက်နေသော အခြင်း အရာတို့ကိုလည်း စိတ်ပါဝင်စားခြင်းမရှိတော့ဘဲ မိမိအနီးရှိ တပ်သားများ၏မျက်နှာများပေါ်တွင် တောက်လောင်လျက် ရှိသော မီး အလျှံကိုသာ ငေးမောကြည့်ရှုကာ မိမိ၏ရင်တွင်း တွင်လည်း ထိုသို့သောမီးလျှံ သည် တဟုန်းဟုန်း တောက် လောင်စပြုနေခြင်းကို ခံစားလာမိလေသည်။ နံနက် ဆယ်ချက်တီးအချိန်၌ကား အမြောက် တပ်စု ရှေ့ခင်တန်းစရှိ ခြေလျင်တပ်များနှင့် ကာမင်ကာ ချောင်းရိုးတစ်လျှောက်တွင် စွဲထားသော ခြေလျင်တပ်များ ဆုတ်လာ ကြလေသည်။ သေနတ်များကို ထမ်းစင်သဖွယ် ပြု၍ ကျည်သင့်သူများကို ထမ်း ကာ ဆုတ်ခွာပြေးလာကြ သော ခြေလျင်တပ်သားများကို တောင်ပူစာပေါ်မှ မြင်ရ ၏။ ဗိုလ်ချုပ်ကြီးတစ်ဦးသည် ကိုယ်ရံတော်များနှင့် အတူ အမြောက်တပ်စည်းထဲ သို့ ရောက်လာလျက် အမြောက် တပ်မှူးကြီးနှင့် စကားပြောဆိုကြပြီးနောက် ပီ ယာကို စိတ် ဆိုးမာန်ဆိုးဖြင့်ကြည့်ကာ အမြောက်တပ်စုနောက်မှ ခြေ လျင်တပ်ကူ များအား အတင့်မရဲရန် သတိပေးစကားပြော ကြား၍ ထွက်ခွာသွားလေသည်။ မ ကြာမီ အမြောက်တပ်စု ၏လက်ယာဘက်ရှိ ခြေလျင်တပ်ကူများဆီမှ အမိန့်ပေးသံ နှင့် ခရာသံ၊ တိုက်စည်တိုက်မောင်းသံများ ပေါ်ထွက်လာ ပြီးနောက် ရှေ့ စစ်ကြောင်းဘက်ဆီသို့ ချီတက်သွားကြ သည်ကို မြင်ရလေသည်။

"ပီယာသည် ကတုတ်ကျင်းနှုတ်ခမ်းပေါ်မှ ခေါင်း ပြု၍ကြည့်လိုက်ရာ ခားလွယ်ကို ခါးတွင်ချိတ်လျက် ပတ်ဝန်းကျင်ကို မလုံမလဲကြည့်ရင်း နောက်သို့ တစ်လှမ်း ချင်းပြန်ဆုတ်လာသောအသားအရည် ဖြူရော်ဖျော့တော လျက်ရှိသည့် တပ်ဗိုလ်ကလေးတစ်ဦးကို မြင်လိုက်ရ သဖြင့် အံ့အားသင့်သွားလေသည်။

ရှေ့တန်းစစ်ကြောင်းဆီသို့ ချီတက်သွားသောခြေ လျင်တပ်များမှာ မီးခိုးလုံး များကြားတွင် ပျောက်ကွယ်သွား ကြလေပြီ။ သို့ရာတွင် ၎င်းတို့၏ညာသံများနှင့် သေနတ် များ ဖျော်ဖျော် ပစ်ခတ်သံများကိုကား ကြားနေရလေ သည်။ မိနစ် အနည်းငယ်ခန့်ကြာလျှင် ထိုဘက်မှ ဒဏ်ရာ ရသူများနှင့် ထမ်းစင်ထမ်းသူများ ပြန်လာကြ၏။ ရန်သူ အမြောက်ကျည်များမှာ တောင်ပူစာပေါ်ရှိ အမြောက်တပ်စု စခန်းပေါ်သို့ ခပ်စိပ်စိပ်ကျနေဆဲပင် ဖြစ်၏။ မကောက်ရ သေးသော လူနာများ အနီးတွင်လည်း နောက်ထပ် ဒဏ်ရာ ရသဖြင့် လဲကျသူများမှာ ပုံလျက်ရှိသည်။ အမြောက်မြတပူ များအနီး၌မူအမြောက်တပ်သားများသည် ယခင်ကထက် သွက်လက်လျင်မြန်စွာ လှုပ်ရှားလျက် ရှိကြ၏။ မည်သူမျှ ပီယာကို ဂရုမစိုက်နိုင် တော့ချေ။ ပီယာမှာ အမြောက်ပစ် လမ်းတွင် ထိုင်နေမိသဖြင့် တစ်ခါ နှစ်ခါ အ ငေါက်ခံလိုက်  ရသေးသည်။ အမြောက်တပ်မိုလ်သည် မျက်နှာထားဆိုး ကြီးဖြင့် အမြောက်တစ်လက်မှ တစ်လက်သို့ ကူးသန်း လျက်ရှိသည်။ မိုလ်သင်တန်းမှ ဆင်းစ တပ်မိုလ်ကလေး ကား စောစောကကဲ့သို့ နီရဲနေသောမျက်နှာဖြင့် တပ်သား များကို ခါတိုင်းထက်ပင် ဂရုတစိုက် အမိန့်ပေးလျက် ရှိသည်။ တပ်သား များသည် ကျည်လုံးများကို ကမ်းပေး ခြင်း၊ အမြောက်ဆုံကို လှည့်ခြင်း၊ ကျည် သွင်းခြင်းစသည့် အလုပ်များကို သွက်လက်စွာလုပ်ဆောင်လျက် ရှိကြ၏။ တစ် နေရာမှ တစ်နေရာသို့ သွားလျှင်ပင် တစ်လှမ်းချင်း မသွားကြတော့ဘဲ စပရိန်ပေါ် တွင် လမ်းလျှောက်သကဲ့သို့ လွှားခနဲ ခုန်ပြေးကြသည်။

ယခုအခါတွင် လျှပ်စစ်တိမ်တိုက်များသည် ၎င်း တို့၏ခေါင်းပေါ်သို့ ရောက်လာခဲ့ကြပြီဖြစ်လေရာ ၎င်းတို့ အားလုံး၏မျက်နှာများတွင် တောက်လောင် လျက်ရှိသော စိတ်အားထက်သန်ခြင်းမီးလျှံသည် ပို၍ အရှိန်ပြင်းလာ သည် ထင် ရ၏။ ပီယာမှာ တပ်မှူး၏ဘေးတွင် ရပ်လျက်ရှိ သည်။ မိုလ်သင်တန်းဆင်းခါစ

တပ်ဗိုလ်ကလေးသည် သံပရာခွံ ဦးထုပ်ဆီသို့ လက်မြှောက်၍ အရိုအသေပေးကာ တပ်မှူးထံသို့ ပြေးလာ၏။

“ဗိုလ်မှူးခင်ဗျား၊ ကျွန်တော့်တပ်စုက အမြောက် တွေမှာ ကျည်ရှစ်လုံးပဲ ကျန်ပါတော့တယ်၊ ဆက်ပစ်ရ ဦးမလား ဗိုလ်မှူး”

“ကိုးလုံးကျည်တွေ လာပြီဟေ့၊ ကိုးလုံးကျည်တွေ လာပြီ” ဗိုလ်မှူးသည် တပ်ဗိုလ်ကလေး၏အမေးကိုပင် မဖြေနိုင်ဘဲ ကတုတ်နှုတ်ခမ်းဝသို့ ခေါင်းပြူ ကြည့်ရင်း အော်လိုက်သည်။

ထိုအခိုက် အဖြစ်အပျက်တစ်ရပ် ပေါ်ပေါက်လာ လေသည်။ သင်တန်းဆင်း ပြီးစ တပ်ဗိုလ်လေးသည် တစ် ခွန်းမျှသာအော်ကာ တောင်ပံကို ထိမှန်ခြင်းခံရ သော ငှက် တစ်ကောင်ကဲ့သို့ မြေကြီးပေါ်သို့ ဗုန်းခနဲလဲကျသွားလေ သည်။ ပီယာ မှာ မျက်လုံးတွေပြာသွားကာ ဘာကိုမျှ မမြင် ရတော့ဘဲ ဖြစ်သွားသည်။ . ရန်သူ အမြောက်သည်များသည် တဝီဝီအော်လျက် တစ်လုံးပြီးတစ်လုံး ကျလာကြသည်။ ကတုတ်ကျင်းနံရံကို မှန်သည့်ကျည်က မှန်သည်။ တပ်သားကိုသင့်သည့်ကျည် က သင့်သည်။ အမြောက်ကို ထိသည့်ကျည်က ထိသည်။  ကိုးလုံးကျည်များ ပေါက်ကွဲ သံကို မကြားဖူးသေးသည့် ပီယာအဖို့ကား နားကွဲလုမတတ် ခံစားလိုက်ရကာ မည် သည့်အသံကိုမျှ မကြားတော့ချေ။ အမြောက်တပ်စု၏ လက်ယာဘက်ဆီမှ တပ်သားများသည် “ဟေး ဟေး” ဟု ညာသံပေး၍ တက်သွားကြသည်။ သို့ရာတွင် ပီယာ ၏စိတ်၌ကား ရှေ့သို့တက်သွားကြသည်ဟု မထင်ဘဲ နောက်သို့ ပြေးနေကြ သည်ဟု ထင်မှတ်လျက်ရှိ၏။

ထိုအခိုက် ရန်သူ့ဘက်မှ နောက်ထပ်ပစ်လိုက် သော အမြောက်ကျည် တစ်လုံးသည် ပီယာရပ်နေသည့် ကတုတ်ကျင်းနှုတ်ခမ်းအစွန်းကို ထိမှန်သည်တွင် ကတုတ် ရိုးကြီး ပြိုကျသွားလေသည်။ ပီယာ၏စိတ်၌လည်း မည်း မည်းအလုံးကြီး

တစ်လုံးသည် ရှေ့တည့်တည့်သို့ ကျလာ ကာ မြေကြီးထဲသို့ စိုက်ဝင်သွားသည်ဟု ထင်လိုက်ရ၏။ လူနာကောက်ရန် အမြောက်တပ်စည်းထဲသို့ ဝင်လာကြ သော အရေးပေါ်စစ်သည်စု တပ်ဖွဲ့ဝင်များမှာ ပြန်ပြေးလာ လေသည်။

“ကိုးလုံးကျည်တဲ့၊ ကိုးလုံးကျည်” တပ်မှူးက အော်လိုက်သည်။

တပ်ကြပ်ကြီးသည် တပ်မှူးထံသို့ အထိတ်တလန့် ပြေးလာကာ နောက်ထပ်ကျည်မရှိတော့ကြောင်း အနီးသို့ ကပ်၍ လေသံကလေးဖြင့် ပြောလိုက်သည်။ (တပ်ကြပ်ကြီး ၏အမူအရာမှာ ထမင်းစားပွဲတစ်ခု၌ အရက်ပြတ်သွား၍ ပေးစရာမရှိတော့ကြောင်း ဧည့်သည်များ မကြားအောင် သခင့်အနီးကပ်၍ ခပ်တိုးတိုးပြောနေသော စားပွဲထိုးတစ် ယောက်၏အမူအရာနှင့်ပင် တူပါဘိတော့သည်။)

”ဟေ ဟိုမအေပေးတွေက ဘာလုပ်နေတာလဲကွ” တပ်မှူးသည် တပ်သားများကို အော်ဟစ်မာန်မဲပြီးနောက် ပီယာဘက်သို့ လှည့်ကြည့်လိုက်၏။

တပ်မှူး၏မျက်နှာသည် နီရဲကာ ချွေးအလိမ်းလိမ်း ကပ်လျက်ရှိ၏။ တွန့်ထားသောမျက်ခုံးအောက်မှ မျက် ( လုံးများကလည်း တဖျပ်ဖျပ် တောက်နေကြ၏။

“ဟော့ကောင်တွေ တပ်ကူတွေဆီသွားပြီး ကျည် ဆန်သေတ္တာ ထမ်းခဲ့ကြ” တပ်မှူးက ၎င်း၏ရဲဘော်များ ကို ထပ်၍ အော်လိုက်ပြန်သည်။

“ကျွန်တော်သွားယူမယ်ဗျာ" ပီယာက ပြောလိုက် သည်။

တပ်မှူးသည် ပီယာကို ဘာမျှ ပြန်မပြောဘဲ ကတုတ်ကျင်းဘက်သို့ ကူးသွားပြီး

”ဟော့ နေဦး စောက်ရမ်း ပစ်မနေကြနဲ့” ဟု အော် “ လိုက်၏။

တပ်ကူများထံ ခဲယမ်းမီးကျောက်သွားယူရန် တာ ဝန်ကျသည့်တပ်သား သည် ပီယာကို ဝင်၍တိုက်မိသည်။

“ဟာ ဆရာလေး ဒီနားမနေနဲ့ဗျ” တပ်သားသည် ပီယာအား ဤသို့ပြောဆို ပြီးနောက် တောင်ပူစာအောက် သို့ ပြေးဆင်းသွား၏။

ပီယာသည် ထိုင်လျက် အသက်ပျောက်နေသော သင်တန်းဆင်းပြီးစ စစ်ဗိုလ်ကလေးကို ရှောင်ကွင်းကာ တပ်သားနောက်မှ ပြေးလိုက်လာခဲ့သည်။

ရန်သူ့ အမြောက်ကျည်သုံးလုံးသည် ၎င်း၏ခေါင်း ပေါ်မှ ရှေ့ဆင့်နောက်ဆင့် ဖြတ်ကျော်သွားကာ ရှေ့သို့ လည်းကောင်း၊ နောက်သို့ လည်းကောင်း၊ ဘေးသို့လည်း ကောင်း ကျသွားကြ၏။ ပီယာသည် ရှေ့ကို စွပ်၍သာ ပြေးလာခဲ့၏။ ခဲယမ်းမီးကျောက်တင်သည့် အစိမ်းပုပ် ရောင်လှည်းများ ကို မြင်သည့်အခါကျတော့မှ “ငါ ဘယ် သွားနေတာပါလိမ့်” ဟူသောအမေးသည် ပီယာ၏ခေါင်း ထဲတွင် ရုတ်တရက်ပေါ်လာသည်။ ပီယာသည် ရှေ့သို့ သွားရအံ့ လော၊ နောက်သို့ ပြန်လှည့်ရအံ့လောဟု ဝေခွဲ၍ မရဖြစ်ကာ ငူငူကြီးရပ်နေမိသည်။ ထိုအခိုက် မြေကြီး သည် တုန်ဟည်းသွားကာ ၎င်း၏ကိုယ်မှာလည်း ဆောင့် တွန်း ခြင်း ခံလိုက်ရသကဲ့သို့ နောက်ပြန်လဲကျသွား သည်။ ဝင်းခနဲ ပေါ်လာသော အရောင်ကြီးကြောင့် မျက်လုံး များမှာလည်း ဘာကိုမျှ မမြင်ရတော့ဘဲ ပြာသွား ကာ နားကွဲလုမတတ် ပေါက်ကွဲ မြည်ဟည်းသံကြီးနှင့် တရွှေ့ မြည်သံများ၊ တ ဖောက်ဖောက် မြည်သံများကို ကြားရလေ ရာ ပီယာ၏နားများမှာ အူနေ တော့သည်။

သတိပြန်ရလာသောအခါတွင် ပီယာမှာ လက်နှစ် ဖက်နောက်ပစ်ကာ မြေကြီးပေါ်တွင် ဖင်ထိုင်လဲလျက် ရှိ၏။ စောစောကမြင်နေရသော ခဲယမ်းမီးကျောက်တင် လှည်းများမှာ မရှိတော့ချေ။ တစ်ပိုင်းတစ်စ မီးကျွမ်းသွား

သော အစိမ်းပုပ်ရောင် သစ်သားစများနှင့် အဝတ်စုတ် များသာလျှင် မီးလောင်ကျွမ်းသွားသော မြက်ခင်းပြင်ပေါ် တွင် ပြန့်ကြဲလျက် ရှိ၏။ မြင်းတစ်ကောင်သည်လှည်း ဝင်ရိုး ထက်ပိုင်းကျိုးကြီးတန်းလန်းဖြင့် လန့်၍ ဦးတည့်ရာ စွတ်ပြေးလျက်ရှိသည်။ အခြားတစ်ကောင်မှာကား ပီယာ ( ကဲ့သို့ပင် မြေကြီးပေါ်တွင်လဲကာ မချိမဆန့်အော်လျက် ရှိလေသည်။

# အခန်း ၃၂

ပီယာသည် ကြောက်အားလန့်အားဖြင့် ထခုန်ကာ အခြား ပြေးစရာမြေမရှိတော့သကဲ့သို့ ခပ်စောစောက အမြောက် ( တပ်စည်းထဲသို့ ပြန်ပြေးလာခဲ့သည်။

အမြောက်တပ်စည်းထဲသို့ ပြန်ရောက်သည့်အခါ၌ ပီယာသည် ထူးဆန်းသောအခြင်းအရာတစ်ခုကို သတိပြု လိုက်မိ၏။ ယင်းကား အခြား မဟုတ်။ လူများသည် တစ်စုံ တစ်ရာကို ပြုလုပ်လျက်ရှိကြခြင်း ဖြစ်၏။ အမြောက်မြတပ်ပူကြီးမှာလည်း ပစ်ခတ်ခြင်း မရှိကြတော့ချေ။ ပီယာ သည် မည်သူမည်ဝါဟုလည်း ခွဲခြား၍မရနိုင်အောင် ဖြစ် လျက် ရှိ၏။ အမြောက်တပ်မှူးသည် အောက်သို့ငုံ့ကြည့်နေ သကဲ့သို့ ကတုတ်ကျင်း နှုတ်ခမ်းတွင် ခေါင်းဆိုက်ကာ အလျား မှောက်လျက်ရှိ၏။ ခပ်စောစောက ပီယာမြင်ခဲ့ဖူး 'သည့် တပ်သားတစ်ယောက်ကား လက်မောင်းကို ချုပ်ကိုင် ထားသော တပ်သားတစ်စုထံမှ ရုန်းထွက်လျက် ရှိ၏။ ၎င်း၏ပါးစပ်မှလည်း “အစ်ကိုတို့၊ အစ်ကိုတို့၊ ဖယ်ကြပါ” ဟု အော်ဟစ်လျက် ရှိ၏။ မြင်ပုံထူးလှချည့်ဟု ပီယာ၏ စိတ်တွင် အောက်မေ့မိ၏။

, ပီယာမရှိသည့်အတွင်း၌ကား အမြောက်တပ်စုကို ရန်သူတို့သိမ်းပိုက်ခဲ့ကြလေပြီ။ အမြောက်တပ်မှူးမှာလည်း ကျဆုံးခဲ့လေပြီ။ ပီယာသိသော တပ်သားမှာလည်း သုံ့ပန်း အဖြစ် အဖမ်းခံရကာ “အစ်ကိုတို့၊ အစ်ကိုတို့” ဟု အော် ဟစ်

တောင်းပန်လျက် ရှိလေပြီ။ ၎င်း၏မျက်စိရှေ့၌လည်း တပ်သားတစ်ယောက်မှာ ကျောကို လှံစွပ်ဖြင့် ထိုးသတ် ခြင်း ခံခဲ့ရလေပြီ။ သို့ရာတွင် ပီယာသည် ထိုအခြင်း အရာအားလုံးကို သိချိန် မရလိုက်ချေ။ အကြောင်းမူကား အမြောက်တပ်စည်းထဲသို့ ပီယာ ပြေးဝင်လာခဲ့သည်နှင့် တစ်ပြိုင်နက် ပိန်ပိန်ပါးပါး မျက်နှာဝါဝါ ချွေးသံ အလိမ်း လိမ်းကပ်လျက်ရှိ၍ အပြာရောင်စစ်ဝတ်စုံ ဝတ်ထားသော လူတစ်ယောက်သည် တစ်စုံတစ်ရာကို အော်ဟစ်ရင်း ဓား  လွတ်ကို ကိုင်လျက် ပီယာထံသို့ ပြေးဝင်လာသောကြောင့် တည်း။ ဤတွင် ပီယာက ခံတပ်စည်းထဲသို့ ခြေကုန်သုတ် ပြေးလာသကဲ့သို့ ထိုလူကလည်း စည်းပြင်ဘက်သို့ အား ကုန်ပြေးလာခဲ့ခြင်းဖြစ်သည့်အလျောက် နှစ်ဦးသား ပက် ပင်းတိုးမိနေကြသည်။ ပီယာသည် ကြောက်အားလန့်အား ဖြင့် မည်သည့်အရာကိုမျှ စဉ်းစားခြင်း မပြုနိုင်တော့ဘဲ အလိုလိုခုခံပြီး ဖြစ်နေကာ ထိုလူ (၎င်းမှာ ပြင်သစ်တပ်ဗိုလ် တစ်ဦး ဖြစ်သည်။) ကို ပခုံးမှ ဖမ်းဆွဲလိုက်ပြီး လည်မျိုကို တအားညှစ်ထားလိုက်မိသည်။ ဤတွင် ပြင်သစ်တပ်ဗိုလ် ကလည်း ဓားလွတ်ကို လွှတ်ချကာ ပီယာကို အင်္ကျီလည် ကုပ်မှ ကိုင်ဆွဲထားသည်။

၎င်းတို့နှစ်ဦးသည် တစ်ယောက်ကို တစ်ယောက် ကြောက်အားလန့်အားဖြင့် ပြူးပြူးကြီးကြည့်နေမိကြ၏။ ၎င်းတို့နှစ်ဦးစလုံး ကြက်သေ သေလျက် ရှိကြ၏။ ထို ခဏ၌ မိမိကပင် သူ့ကို သုံ့ပန်းအဖြစ် ဖမ်းထားသလော၊ သူကပင် မိမိကို သုံ့ပန်းအဖြစ် ဖမ်းထားပြီလောဟူ၍ လည်း နှစ်ဦးစလုံး ဝေခွဲမရဖြစ်လျက် ရှိကြ၏။ သို့ရာတွင် ကြောက်ကြောက်ဖြင့် ဖျစ်ညှစ်ထားသော ပီယာ၏လက် များသည် ပြင်သစ်တပ်ဗိုလ်၏လည်မျိုးပေါ်၌ တင်းကျပ် သည်ထက် တင်းကျပ်လာသောအခါ၌မူကား သုံ့ပန်းအဖြစ် အဖမ်းခံရသူမှာ မိမိပါတကား ဟူသော အတွေးသည် ပြင်သစ်တပ်ဗိုလ်၏ခေါင်းထဲတွင် လွှမ်းမိုးလာခဲ့လေပြီ။ ဤအတွင်း ပြင်သစ်တပ်ဗိုလ်က တစ်စုံတစ်ရာပြောရန် ပါးစပ်ဟာလိုက်၏။ ထိုအခိုက် အမြောက်

ကျည်တစ်လုံး သည် ကြောက်မက်ဖွယ်မြည်ဟည်းကာ ၎င်းတို့ခေါင်း ပေါ်မှ ဖြတ်သွား၏။ အကယ်၍သာ ပြင်သစ်တပ်ဗိုလ်၏ ခေါင်းကို သွက်လက်စွာ နှိမ့်မထားလိုက်ပါက ပြင်သစ် တပ်ဗိုလ်မှာ ခေါင်းနှင့်ကိုယ် အိုးစားကွဲသွားတော့မည်သာ ဖြစ်လေသည်။

ပီယာကိုယ်တိုင်မှာလည်း ခေါင်းကို လျင်မြန်စွာငုံ့ ကာ ပြင်သစ်တပ်ဗိုလ်၏လည်မျိုကို ယောင်၍ လွှတ်လိုက် ၏။ ဤအကြိမ်တွင်ကား မည်သူက မည်သူ့ကို သုံ့ပန်း အဖြစ် ဖမ်းထားသနည်းဆိုသည်ကို မတွေးမိကြတော့ဘဲ ပြင်သစ်တပ်ဗိုလ်ကလည်း အမြောက်တပ်စည်းထဲသို့ ပြန် လှည့်ပြေး၏။ ပီယာသည် ဒဏ်ရာဖြင့် လဲနေသူများ၊ အသက်ပျောက်လဲနေသူများကို ဒရောသောပါး ကျော်လွှား ကာ တောင်ပူစာအောက်သို့ တစ်ဟုန်ထိုးဆင်းပြေးလာခဲ့ သည်။ (၎င်းတို့သည် မိမိ၏ခြေထောက်ကို လှမ်းဆွဲနေ ကြသည်ဟုပင် ပီယာ ထင်မိသေးသည်။) ဤသို့ ခံတပ် တောင်ကုန်းပေါ်မှ ဆင်းပြေးလာခဲ့စဉ် ညာသံပေးကာ ခံတပ်ကုန်းပေါ်သို့ ဖွတ်အတင်းတက်လာကြသော ရုရှား တပ်သားအုပ်ကြီးတစ်အုပ်နှင့် တိုးနေသည်။ (၎င်းတိုက်စစ် မှာ အာမိုလှော့ဗ်ဦးစီးကွပ်ကဲသည့် တိုက်စစ်ကြောင်း ဖြစ် ၏။ မိမိ၏ကံဇာတာမြင့်နေခြင်းနှင့် သူရသတ္တိ ရှိခြင်း ကြောင့် ဤတိုက်စစ်မျိုး ဆင်နွှဲနိုင်ခြင်း ဖြစ်သည်ဟု နောင် သောအခါတွင် ဗိုလ်ချုပ် အာမိုလှော့ဗ်က ဂုဏ်ယူခဲ့၏။ အဆိုပါခံတပ်သိမ်းတိုက်ပွဲတွင် ဗိုလ်ချုပ်အာမိုလှော့ဗ်သည် အိတ်ကပ်နှင့် အပြည့်ပါလာသော စိန့်ဂျော့သူရဲကောင်း ရွှေ တံဆိပ်များကို ခံတပ်ထဲသို့ ပစ်ကြဲပေးရ၏။ ထိုအခါကျမှ တပ်သားများသည် ခံတပ်ကို အတင်းဝင်သိမ်းကာ ရွှေတံဆိပ်များကို အလုအယက်ကောက်ကြသည်။ ဤသို့ဖြင့် တပ်သားများ၏ စိတ်ဓာတ်ကို မြှင့်ပေးရသည်ဟု အဆိုရှိ လေသည်။) ဗိုလ်ချုပ်အာမိုလှော့ဗ်တပ်များ၏ တိုက်စစ်ကြောင့် ထိုခံတပ်ကို သိမ်းပိုက်ထားသည့် ပြင်သစ်တို့ အကွဲကွဲ အ

ပြဲပြဲဆုတ်ကြရ၏။ ဤတွင် ရုရှားတို့လည်း တအား တက်ကာ အမြောက်တပ်စည်း ပြင်ဘက်သို့ ကျွံ၍ တိုက် ကြသဖြင့် အနိုင်နိုင် ပြန်၍ခေါ်ယူရလေသည်။

အမြောက်တပ်စည်းထဲမှ လက်ရဖမ်းမိသော ပြင် သစ်သုံ့ပန်းများကိုလည်း ခေါ်ဆောင်လာခဲ့၏။ ၎င်းတို့ အထဲတွင် ဒဏ်ရာရသွားသော ပြင်သစ်ဗိုလ်ချုပ်တစ်ဦး လည်း ပါဝင်လေသည်။ အမြောက်တပ်စည်းမှ အောက် တောင်ပူစာခြေရင်းသို့ ဆင်းလာသည့်အခါတွင် ကျည်သင့် သော ပြင်သစ်တပ်သားများနှင့် ရုရှားတပ်သား များသည် (ပီယာသိသူလည်းရှိ၍ မသိသူလည်း ပါသည်။) ဝေဒနာ ကြောင့် မျက်နှာကြီးများကို ရှုံ့မဲ့လျက် ခြေလျင်လိုက်ပါ လာကြ၏။ အချို့ကလည်း လေးဖက်တွား၍ လိုက်ပါလာ ကြ၏။ အချို့ကိုကား ထမ်းစင်များဖြင့် သယ်ယူလာ ခဲ့ လေသည်။ ပီယာသည် တစ်နာရီမျှ အချိန်ဖြုန်းခဲ့သော အမြောက်တပ်စုရှိရာ တောင်ပူစာကလေးပေါ်သို့ နောက် ( တစ်ခေါက် တက်လာခဲ့ပြန်သည်။ မိမိအား အိမ်ထောင်စု သားတစ်ဦးကဲ့သို့ ဆက်ဆံခဲ့ကြသည့် အမြောက်တပ်သား များကိုမူ တစ်ယောက်မျှ မတွေ့ကြရတော့ချေ။ မိမိနှင့် သိကျွမ်းခြင်းမရှိသော တပ်သားများ စွာတို့သည် တပ်စည်း ထဲတွင် အတုံးအရုံးလဲကျသေဆုံးလျက် ရှိကြ၏။ အချို့ မျက်နှာများကိုမူကား ပီယာ မှတ်မိပေသည်။ သင်တန်း ဆင်းပြီးစ ဗိုလ်ကလေးမှာ ကတုတ်ကျင်းထိပ်၌ ခပ်စောစော ကကွဲ့သို့ပင် သွေးအိုင်ထဲတွင် ထိုင်လျက်သားကျ ဆုံးလျက် ရှိ၏။ မျက်နှာနီနီနှင့် ခပ်ရွှတ်ရွှတ်တပ်သားမှာ အကြောဆွဲ လျက် ရှိသည်။ ၎င်းကိုကား ကောက်မသွားကြချေ။

ပီယာသည် တောင်ပူစာအောက်သို့ ပြေးဆင်းလာ ခဲ့ပြန်သည်။

"သူတို့တော့ သူတို့လုပ်တာတွေ မှားပြီလို့ နောင်တ ရကြလောက်ပြီ ထင်တယ်၊ နောက်ထပ် တိုက်ကြခိုက်ကြ တော့မှာ မဟုတ်ဘူးထင်တယ်" ။

ပီယာသည် ဤသို့တွေးကာ စစ်တလင်းဆီမှ ထွက်လာသော ထမ်းစင်သယ် သူများဆီသို့ အမှတ်မထင် လျှောက်လာခဲ့မိသည်။

သို့ရာတွင် မီးခိုးကန့်လန့်ကာကြီးသည် ဖုံးအုပ် လျက်ရှိဆဲ ဖြစ်၏။ နေလုံးကြီးမှာ မြင့်တက်လာခဲ့လေပြီ။ ရှေ့တန်းစစ်မျက်နှာ၊ အထူးသဖြင့် လက်ဝဲဘက် တောင်ပံ ရှိ ဆင်မြီနော့ရွာအနီးတစ်ဝိုက်တွင်ကား မီးခိုးလုံးများသည် ထူထပ် သိပ်သည်းလျက်ရှိ၍ အသံမျိုးစုံတို့သည် အုန်းအုန်း ညံလျက်ရှိ၏။ ထိုနေရာ တစ်ဝိုက်၌ အမြောက် မြတပူ ပစ် ခတ်သံများနှင့် သေနတ်သံများသည် ပျောက်ကွယ်သွား ခြင်း မရှိရုံမျှမက ကြွင်းကျန်သောခွန်အားတို့ကို ရုန်းကန် ညှစ်ထုတ် အော်ဟစ်နေသော လူတစ်ယောက်ကဲ့သို့ အစွမ်း ကုန်မြည်ဟည်းလျက် ရှိပေ သတည်း။

# အခန်း ၃၃

ဘိုရိုဒီနိုစစ်ပွဲ၌ အပြင်းထန်ဆုံးသော စစ်မျက်နှာမှာ ဘိုရိုဒီနို ရွာနှင့် ဗိုလ်ချုပ်ကြီးဘာဂရေးရှင်း၏သစ်တပ်များအကြား ရှိ ပေခုနစ်ထောင်အဝန်းရှိသော စစ်မျက်နှာပင် ဖြစ်လေ သည်။ ထိုစစ်မျက်နှာ၏ တစ်ဖက်ထိပ်ရှိ ဗိုလ်ချုပ် အူ ဗာရော့ဗ်၏ ရုရှားမြင်းတပ်များက မွန်းတည့်ချိန်လောက်မှစပြီး ရန်သူများကို စတင် တိုက်ခိုက်ခဲ့၍ အခြားတစ်ဖက်ထိပ်ရှိ အူတစ်ဇာရွာအနီးတွင်ကား ရုရှားဗိုလ်ချုပ် တူချ်ကော့ဗ်၏ ( တပ်များနှင့် ပြင်သစ်ဗိုလ်ချုပ် ပိုနီယာတိုစကီတို့၏တပ်များ တိုက်ပွဲ ဖြစ်ပွားလျက် ရှိကြ၏။ သို့ရာတွင် ထိုတိုက်ပွဲ နှစ်ပွဲစလုံးမှာ ရုရှားခံစစ်ကြောင်း ဗဟိုချက်မ စစ်မျက်နှာ အလယ်တည့်တည့်ရှိ ဗိုလ်ချုပ်ကြီး ဘာဂရေး ရှင်း၏ တပ် များတိုက်ခိုက်ရသည့် တိုက်ပွဲလောက် ပြင်းထန်ခြင်းမရှိ လှချေ။ ဘိုရိုဒီနိုရွာနှင့် ရုရှားသစ်တပ်များအကြားရှိ လယ် ကွင်းများနှင့် တကွ တောစပ်များ

တစ်ဝိုက်တွင် ဖြစ်ပွား သောတိုက်ပွဲကား အဓိကရတိုက်ပွဲဖြစ်လျက် တစ်ဖက်နှင့် တစ်ဖက်လှမ်းမြင်နေရသော ကွင်းပြင်ကြီးပေါ်တွင် တိုက် ရခြင်းဖြစ်ပြီး ပြောင် အကျဆုံး၊ ဖြစ်ကတတ်ဆန်း အနိုင် ဆုံးသောတိုက်ပွဲလည်း ဖြစ်ပေသည်။

တိုက်ပွဲစပြီဆိုသည်နှင့် တစ်ပြိုင်နက် နှစ်ဖက် စလုံးမှာပင် ရာပေါင်းများစွာ သော အမြောက်မြတပ်ကြီး များဖြင့် တစ်ဖက်ကို တစ်ဖက် တရစပ် စတင်ပစ်ခတ် ခြင်း ပြုကြလေသည်။

အမြောက်ကြီးများဖြင့် ပစ်ခတ်ကြခြင်းကြောင့် ကွင်းပြင်တစ်ခုလုံးတွင် မီးခိုး လုံးကြီးများ ဖုံးအုပ်လျက် ရှိကြ၏။ မီးခိုးလုံးကြီးများအောက်တွင် ပြင်သစ် လက်ယာ တောင်ပံမှ ဗိုလ်ချုပ်ကင်ပန်၏တပ်များနှင့် ဗိုလ်ချုပ် ဒက်ဆေး၏တပ် များက ရှေ့သို့ ရှုပ်ရှုပ်ချုံချုံ ချီတက် တိုက် ခိုက်ကြကာ ပြင်သစ်လက်ဝဲတောင်ပံဖြစ် သော ဘိုရိုဒီနိုရွာ ဘက်ဆီမှလည်း ဗိုလ်ချုပ်မူးရတ်၏တပ်များက တရကြမ်း ချီ တက်လာခဲ့ကြလေသည်။

နပိုလီယန် ရပ်၍ကြည့်ရှုလျက်ရှိသော ရှီဗာဒီနို ခံတပ်နှင့် ဗိုလ်ချုပ်ကြီး ဘာ ဂရေးရှင်း၏သစ်တပ်ရိုးမှာ ပေသုံးထောင့်ငါးရာခန့် ကွာဝေး၍ ဘိုရိုဒီနိုရွာနှင့်ဆို လျှင် ကျီးကန်းတစ်ပျံသာသာ ပေခုနှစ်ထောင်ခန့် ဝေးသည့် အတွက် နပိုလီယန် သည် ဘိုရိုဒီနိုတစ်ဝိုက်တွင် ဖြစ်ပွား လျက်ရှိသောအခြင်းအရာများကို မမြင်နိုင် ချေ။ ထိုအထဲ တွင် နှင်းများနှင့် မီးခိုးလုံးများကလည်း ထိုဒေသတစ် ဝိုက်ကို ဖုံးအုပ်လျက် ရှိပေသည်။ ရုရှားစစ်တပ်ကို ဝန်းရံ တိုက်ခိုက်ကြသည့် ပြင်သစ် ဗိုလ်ချုပ် ဒက်ဆေး၏တပ် များကို သစ်တပ်ရိုးရှေ့ မြေပြန့်လွင်ပြင်သို့ ရောက်လာမှ ခပ်ရေးရေး မြင်ရသည်။ သို့ရာတွင် ၎င်းတို့ မြေပြန့်သို့ ပြိုဆင်းလာသည်နှင့် တစ်ပြိုင်နက် ရုရှားသစ်တပ်ထဲမှ အမြောက်မြတပ်များ၊ သေနတ်များ၏ ပစ်ခတ်သံ မှာ ပို၍ ပြင်းထန်လာရကား ခဏတွင်း၌ပင် ထိုနေရာတစ်ဝိုက် တွင်လည်း မီးခိုး

လုံးများ ဖုံးအုပ်သွားပြန်လေသည်။ တစ်ချီ တစ်ချီတွင်မူ မှောင်မည်းလျက်ရှိသော မီးခိုးများကြားမှ လူသဏ္ဍာန် မည်းမည်းအရိပ်များနှင့် လုံစွပ်များမှ ဝင်း လက်သော အရောင်များကို မြင်လိုက်ရ၏။ သို့ရာတွင် ရှီဗာဒီနိုခံတပ်ထဲမှ လှမ်းမျှော်ကြည့် လျှင်မူကား ထိုမည်း မည်းသဏ္ဍာန်များသည် လှုပ်ရှားပြေးလွှား၍ နေကြခြင်း လော၊ မလှုပ်မယှက် ရပ်နေကြခြင်းလော သို့မဟုတ် ပြင်သစ်တပ်သားများလော၊ ရုရှားတပ်သားများလော ဆို သည်ကို ခွဲခြား၍ မရချေ။

နေသည် ကျဲကျဲတောက် ပူစပြုလာလေရာ တောက်ပသောနေရောင်ခြည် များသည် နပိုလီယန်၏ မျက်နှာပေါ်သို့ ဖြာကျလာကြ၏။ နပိုလီယန်သည် မျက် လုံးများကို လက်ဝါးဖြင့်ကာလျက် ရုရှားသစ်တပ်ရိုးဆီသို့ လှမ်းမျှော်ကြည့်ရှုလျက် ရှိသည်။ ရှေ့ဆီတွင်ကား မီးခိုးလုံး များသာ ဖုံးလွှမ်းလျက်ရှိ၍ တစ်ခါတစ်ခါတွင် မီးခိုးလုံး များက ရွေ့လျားနေသည်ဟုထင်ရပြီး တစ်ချီတစ်ချီတွင် တပ်သားများက ရွေ့လျားနေသည်ဟု ထင်ရ၏။ တစ်ခါ တစ်ရံ၌လည်း ပစ်ခတ်သံများကြားထဲမှ ဟစ်အော်သံများ ကို ကြားရ၏။ သို့သော်လည်း ထိုနေရာတွင် အခြေအနေ မည်သို့ ရှိနေသည်ကိုမူကား မည်သူမျှ မပြောနိုင်ချေ။

နပိုလီယန်သည် ရှီဗာဒီနိုခံတပ်ထဲရှိ တောင်ကုန်း ပေါ်တွင်ရပ်ရင်း မှန်ပြောင်းဖြင့် လှမ်းကြည့်ပြန်သည်။ မှန်ပြောင်း၏သေးငယ်သော ကသိုဏ်းဝန်း ထဲ၌ မီးခိုးလုံး များနှင့် တပ်သားများသည် အထင်းသားလာ၍ ပေါ်နေကြ ၏။ အချို့မှာ ပြင်သစ်တပ်သားများဖြစ်၍ အချို့ကား ရုရှားတပ်သားများ ဖြစ်ကြ၏။ သို့ရာတွင် မှန်ပြောင်းကို မျက်လုံးမှ ခွာလိုက်သည်နှင့် ရှုခင်းသည် ပီသခြင်းမရှိ တော့ ဘဲ ဝါးသွားပြန်ကာ စောစောကမြင်ခဲ့ရသောနေရာသည် မည်သည့်နေရာ ဖြစ်ကြောင်းကိုပင် ခွဲ၍ မရတော့ချေ။

နပိုလီယန်သည် တောင်ကုန်းကလေးပေါ်မှ ဆင်း လာကာ ခြေရင်းတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက် နေသည်။

တစ်ကြိမ် တစ်ကြိမ်၌ လမ်းလျှောက်ခြင်းကိုရပ်၍ ပစ်ခတ်သံများကို နားထောင်ကာ စစ်တလင်းဆီသို့ စူးစိုက် ကြည့်နေမိပြန်သည်။ သို့ရာတွင် နပိုလီယန်ရပ်လျက်ရှိသော တောင်ကမူ အောက်ခြေမှ လည်းကောင်း၊ နပိုလီယန်၏ ဗိုလ်ချုပ်အချို့ ရပ်လျက်ရှိသော တောင်ကမူပေါ်မှ လည်းကောင်း ရုရှား သစ်တပ်ဆီသို့ မျှော်လိုက်မည်ဆိုက မည်သည့်အရာကိုမျှ သဲကွဲစွာ မမြင်ရချေ။ ထိုမျှဝေးလံသောနေရာကို မဆိုထား နှင့် သစ်တပ်ရိုးအတွင်းသို့ ဝင်ကြည့်လျှင်ပင် မည်သည့်အရာကိုမျှ သဲကွဲစွာမြင်ရမည် မဟုတ်ချေ။ ယခုအချိန်၌ ပြင်သစ်တပ်များနှင့် ရုရှားတပ်များသည် သစ်တပ်ကို သူတစ်ပြန်၊ ငါတစ်ပြန် သိမ်းပိုက်လျက် ရှိကြ၏။ တစ်ချီ ( တစ်ချီ၌လည်း နှစ်ဖက်စလုံးက တစ်ပြိုင်တည်း ဝင်ရောက် သိမ်းပိုက်မိပြီးသား ဖြစ်နေတတ်၏။ တပ်ရိုးထဲ၌ ကျဆုံး သူက ကျဆုံးလျက်၊ ပစ်ခတ်သူက ပစ်ခတ်လျက်၊ ကျည် သင့်သူက ကျည်သင့်လျက်၊ ထိတ်လန့်သူက ထိတ်လန့်လျက်၊ သွေးပျက်သူက သွေးပျက်လျက် အထွေးထွေး ဖြစ်လျက်ရှိရာ သစ်တပ်ထဲသို့ ကိုယ်တိုင်ကိုယ်ကျ ဝင်ကြည့် လျှင်ပင် မည်သည့်အရာကိုမျှ သဲကွဲစွာ မမြင်နိုင်ချေ။ ထိုနေရာတစ်ဝိုက်၌ အမြောက် မြတပူ ပစ်ခတ်သံများ၊ တစ်လုံးထိုးသေနတ်ပစ်သံများသည် နာရီပေါင်းများစွာ တရစပ်မြည်ဟည်းလျက်ရှိကြ၍ တစ်ကြိမ် တစ်ကြိမ်တွင် ရုရှားတပ်သားများကိုချည်း မြင်ရကာ တစ်ခါ တစ်ခါ ၌လည်း ပြင်သစ်တပ်သားများကိုသာ တွေ့ရတတ်၏။ တစ်ချီ တစ်ချီ၌လည်း ခြေလျင်တပ်များကို မြင်ရပြီးနောက် တစ်ခါတစ်ရံတွင်လည်း မြင်းတပ်များကို တွေ့လိုက်ရ၏။ ၎င်းတို့အားလုံးသည် တပ်စည်းထဲတွင် ဘွားခနဲ ပေါ်လာ ကြလျက် ပစ်ကြ၊ ခတ်ကြ၊ သတ်ကြ၊ ဖြတ်ကြ၊ လဲကြ၊ ကွဲကြ၊ တိုက်ကြ၊ ခိုက်ကြသဖြင့် ရုတ်ရုတ်သဲသဲဖြစ်လျက် ရှိကာ တစ်ဦးနှင့် တစ်ဦး ပက်ပင်းဝင်တိုက်မိကြလျှင်လည်း ၊ မည်သည့်ပြုရ

မည်မသိကြတော့ဘဲ အော်ဟစ်လျက် ခြေဦး တည့်ရာသို့ လှည့်ပြေးကြပြန်လေသည်။

နပိုလီယန်စေလွှတ်ထားသော တပ်ရေးများနှင့် စစ်သူကြီးများထံမှ ဆက်သားများသည် စစ်တလင်းမှ နပိုလီယန်ထံသို့ မြင်းကို ဒုန်းစိုင်းစီးလာခဲ့ကြကာ တိုက်ပွဲ ၏အခြေအနေကို အဆက်မပြတ် သတင်းပို့လျက်ရှိကြ၏။ သို့ရာတွင် စစ်မျက်နှာတစ်ခုလုံး ရှုတ်ရှုတ်သဲသဲဖြစ်ကာ တိုက်ပွဲပြင်းထန်နေချိန်၌ အခြေအနေကို အတိအကျမသိ နိုင်ခြင်း၊ တပ်ရေးများကလည်း တိုက်ပွဲဖြစ်ပွားသည့်နေရာ သို့ရောက်အောင်မသွားကြဘဲ တစ်ဆင့်ကြားခဲ့ရသည် များကိုသာ အစီရင်ခံကြခြင်း၊ သတင်းယူလာသည့် တပ်ရေး က နပိုလီယန်ရှိရာသို့ မြင်းကိုဒုန်းစိုင်း၍ သတင်းပို့ရန် လာနေချိန်၌ တိုက်ပွဲ၏အခြေအနေမှာ ပြောင်းသွားကာ ၎င်းယူလာခဲ့သော သတင်းသည်လည်း လမ်းတွင်ပင် တန်ဖိုး မရှိဖြစ်လာခဲ့ခြင်းစသည့် အကြောင်းများကြောင့် နပိုလီယန် ထံသို့ ရောက်လာသမျှသော သတင်းဟူသမျှသည် မမှန်သတင်းများသာဖြစ်ကြချေသည်။ စစ်သူကြီး မူးရတ်သည် ဘိုရိုဒီနို ကို မိမိတို့တပ်များက သိမ်းပိုက်ပြီးဖြစ်ကြောင်း၊ ကိုလိုချာ မြစ်ကို ဖြတ်ကူးထားသည့် တံတားမှာလည်း မိမိတို့လက်သို့ ကျရောက်နေပြီဖြစ်ကြောင်း၊ ထို့ကြောင့် ကိုလိုချာမြစ်အား ဖြတ်ကူးသင့် မကူးသင့်ကို ညွှန်ကြားစေ လိုကြောင်းဖြင့် တပ်ရေးတစ်ယောက်ကို နပိုလီယန်ထံသို့ သတင်းအပို့လွှတ်လိုက်၏။ နပိုလီယန်ကလည်း မြစ်ကို မဖြတ်ကူးသေးဘဲ တပ်များကို စု၍ ဆိုင်းငံ့ထားကြရန် အမိန့်ပေး၏။ သို့ရာတွင် နပိုလီယန်ကဤသို့ အမိန့်ပေး ခြင်းမပြုမီ ဆက်သားကိုယ်တိုင် ဘိုရိုဒီနိုရွာမှ မထွက်သေးမီ၌ပင် အခြေအနေမှာ တစ်မျိုးတစ်ဖုံ ပြောင်းသွားခဲ့ လေပြီ။ ရုရှားတပ်များသည် ကိုလိုချာတံတားကို ပြန်လည် သိမ်းပိုက်၍ မီးရှို့ဖျက်ဆီးပစ်လိုက်ကြလေပြီ။ (ရုရှားတပ် များက ထိုတံတားကို ပြန်သိမ်း၍ ဖောက်ခွဲပစ်လိုက်သည့်

တိုက်ပွဲမှာ စစ်ပွဲအစတွင်ဖြစ်ပြီး ထိုစဉ်က ထိုနေရာတွင် ပီယာလည်း ရှိသည်။) စစ်တလင်းမှ ပြင်သစ်တပ်ရေးတစ်ယောက်သည် ဖြူရော်၍ လွန်မင်းစွာတုန်လှုပ် လျက်ရှိသော မျက်နှာဖြင့် နပိုလီယန်ထံသို့ မြင်းကို ဒုန်းစီးရောက်လာခဲ့ကာ မိမိတို့ တိုက်စစ်မှာ အရေးနိမ့်၍ ဆုတ်ခွာလာခဲ့ရပြီဖြစ်ကြောင်း၊ ဗိုလ်ချုပ်ကြီး ကင်ပန်မှာ ဒဏ်ရာအကြီးအကျယ်ရ၍ ဗိုလ် ချုပ်ကြီး ဒါဗောက်မှာလည်း ကျဆုံးသွားပြီ ဖြစ်ကြောင်းဖြင့် လည်း နပိုလီယန်ထံ သတင်းပေးပို့ခြင်း ပြုလေသည်။ သို့သော်လည်း တစ်ချိန်တည်းမှာပင် ရုရှားတပ်များမှာ ဆုတ်ခွာသွားကြပြီ ဖြစ်ကြောင်း၊ ရုရှားခံတပ်ကိုလည်း ပြင်သစ်တို့က ပြန်လည်သိမ်းပိုက်လိုက် ကြောင်း၊ ဗိုလ်ချုပ် ကြီးဒါဗောက်မှာ အနည်းငယ် ဒဏ်ရာရရှိရုံသာရှိကြောင်း စ သည့် အခြားသတင်းတစ်ခုလည်း ရောက်လာပြန်လေ သည်။ ဤသို့ဖြင့် နပိုလီ ယန်သည် မည်သည့်နည်းနှင့်မျှ  ယုံကြည်စိတ်ချ၍ မဖြစ်သော အစီရင်ခံချက်များ ကို အခြေ ပြု စဉ်းစားကာ အမိန့်များကို ပေးခဲ့ခြင်းဖြစ်လေရာ နပို လီယန်၏အမိန့် များသည် တစ်ခါတစ်ရံ၌ ထုတ်ပြန်ခြင်း မပြုမီကတည်းကပင် လက်အောက်ငယ်သားများက ကိုယ့် သဘောနှင့် ကိုယ် ဆောင်ရွက်ပြီးဖြစ်နေ သော အမိန့်မျိုး များဖြစ်လျက်၊ တစ်ခါတစ်ရံ၌လည်း လက်တွေ့ဆောင်ရွက် ၍ မ ဖြစ်သည့်ပြင် မည်သူကမျှ လိုက်နာဆောင်ရွက်ခြင်း မရှိသော အမိန့်မည်ကာမတ္တ မျိုးသာ ဖြစ်လျက်ရှိလေသည်။

စစ်မျက်နှာ အနီးတစ်ဝိုက်တွင် ရောက်ရှိနေကြ သည့် စစ်သူကြီးများနှင့် စစ်ဗိုလ်ချုပ်များသည်လည်း (နပို လီယန်ကဲ့သို့ပင်) တိုက်ပွဲ၌ ကိုယ်ထိ လက်ရောက် ပါဝင် ခြင်း မရှိကြချေ။ တစ်ခါတစ်ခါ၌သာ ရန်သူနှင့် သေနတ် တစ် ပစ်အကွာသို့ ရောက်လာကြကာ နပိုလီယန်ထံ အမိန့် တောင်းခံခြင်းမပြုကြတော့ ဘဲ ၎င်းတို့ဘာသာ အစီအစဉ် ရေးဆွဲ၍ မည်သည့်စစ်ကြောင်းကို ပစ်ခတ်ရမည်၊ မြင်းတပ် က မည်သည့်ဘက်သို့ ချီတက်ရမည်၊ ခြေလျင်တပ်က မည်သို့ တက်

တိုက်ရမည်ဆိုသည့်ကိစ္စများကို ၎င်းတို့ သဘောဖြင့် အမိန့်ပေးသွားကြသည်သာ ဖြစ်လေသည်။ သို့ရာတွင် တိုက်ပွဲအနီးမှနေ၍ ပေးသော ၎င်းတို့၏အမိန့် များသည်လည်း နပိုလီယန်၏ များစွာသောအမိန့်များ ကဲ့သို့ အရာမထင်ကြချေ။ အရာထင်သည်ဆိုလျှင်လည်း မည်ကာမတ္တသာဖြစ်ပေသည်။ အများအားဖြင့်ကား ၎င်းတို့၏အမိန့်များနှင့် ဆန့်ကျင်၍ ဖြစ်ပေါ်လာကြသည် သာ ဖြစ်လေသည်။ အမိန့်က ရှေ့သို့ တက်ရမည်ဆို သော်လည်း တကယ်လက်တွေ့တွင်မူ ရန်သူ့ ကိုးလုံးကျည်အမြောက်ဒဏ်ကို မခံနိုင်သည်နှင့် ဆုတ်ပြေးလာခဲ့ကြ သည်သာ ဖြစ်၏။ အမိန့်က ရှိရင်းစွဲနေရာမှ ခံရမည်ဟု ဆိုသော်လည်း လက်တွေ့၌ကား ရန်သူ ရှောင်တခင် ဝင်တိုက်သည်နှင့် ရှေ့သို့တက်တိုက်သူက တိုက်၍ နောက် သို့လှည့်ပြေးသူက ပြေးသည်သာဖြစ်လေသည်။ မြင်းတပ် က ခြေဦးတည့်ရာ ထွက်ပြေးသော ရန်သူများကို အမိန့် မရဘဲ လိုက်လံတိုက်ခိုက်သည့်အခါမျိုးလည်း ရှိသေး၏။ ပြင်သစ်မြင်းတပ်နှစ်တပ်က ဆင်မြီနော့ရွာဘေး ကွင်းပြင် ထဲသို့ တရကြမ်းဆင်း၍ တိုက်ခိုက်ပြီး ကွင်းပြင်အဆုံး ကုန်းရိုးကလေးတစ်ခုသို့အရောက်တွင် အကြောင်းမဲ့ တရ ကြမ်းဆုတ်ပြေးကြသည့်ကိစ္စမှာ ဤသို့အမိန့်မရှိဘဲ ကိုယ့်  သဘောနှင့် ကိုယ်ဝင်တိုက်ကြခြင်းမျိုး ဖြစ်ပေသည်။ ထို နည်းနှင်နှင်ပင် ခြေလျင်တပ်များကလည်း အမိန့်ပေးသော နေရာသို့ မတက်ဘဲ ခြေဦးတည့်ရာသို့ ဖရိုဖရဲ တက်တိုက် ကြသည်သာဖြစ်၏။ အမြောက်များကို မည်သည့်အချိန်၊ မည်သည့်နေရာသို့ ပစ်ခတ်ရမည်ဆိုသည့်အမိန့်များ၊ ခြေ လျင်တပ်က မည်သည့်အချိန်တွင် ဝင်တိုက်ရမည်ဆိုသည့် အမိန့်များ၊ မြင်းတပ်က မည်သည့်ရုရှားခြေလျင်တပ်ကို မည်သို့မည်ပုံဖောက်တိုက်ရမည်ဆိုသည့်အမိန့်များ စသည့် အမိန့်ဟူသမျှကို သက်ဆိုင်ရာတပ်ဖွဲ့ အနီးရှိ တပ်ဗိုလ်များ က ၎င်းတို့၏သဘောအလျောက် ချက်ချင်းပေးကြခြင်း သာဖြစ်သည်။ ၎င်းတပ်ဗိုလ်များသည် နပိုလီယန်ထံ အမိန့် တောင်းခံဖို့ မဆိုထားနှင့်၊ စစ်မျက်နှာတစ်ဝိုက်တွင် ရှိနေ ကြသော နေးလ်၊ ဒါဗောက်၊ မူးရတ်စသည့် ဗိုလ်ချုပ်များ ထံတွင်ပင် အမိန့်တောင်းခံကြသည် မဟုတ်ချေ။ ဤသို့ အမိန့်

မရှိဘဲ ကိုယ့်သဘောနှင့် ကိုယ် ဆောင်ရွက်ခြင်း၊ အမိန့်ကို မလိုက်နာခြင်းတို့ ကြောင့် နောင်တွင်ကျရောက် လာမည့် အန္တရာယ်တို့ကိုလည်း တွေး၍ ကြောက်မ နေနိုင် တော့ချေ။ အကြောင်းမူကား စစ်ပွဲ၌ တွေ့ကြုံရသော အန္တ ရာယ်မှာ ထို အန္တရာယ်တို့ထက် အဆများစွာ ကြောက် ဖွယ်ကောင်းသော အန္တရာယ်၊ လူတွင် အဖိုးတန်ဆုံးသော အသက်တစ်ချောင်းဆုံးရှုံးမည့် အန္တရာယ် ဖြစ်သောကြောင့် တည်း။ တစ်ခါတစ်ရံ ၎င်းတို့၏စိတ်၌ ဆုတ်ပြေးမှ အသက် အန္တ ရာယ်လုံခြုံ သည်ဟု ထင်တတ်ကြသည့်အခါမျိုးလည်း ရှိ၍ တစ်ခါတစ်ရံ၌လည်း ရှေ့တိုးမှ အသက်အန္တရာယ် လုံခြုံသည်ဟု ထင်တတ်ကြသည့်အခါမျိုးလည်း ရှိတတ် ၏။ ဤသို့ဖြင့် တစ်ဖက်နှင့် တစ်ဖက် ပစ်ကြ၊ ခတ်ကြ၊ ထိုးကြ၊ ခုတ်ကြဖြင့် ရှိနေသည့် တိုက်ပွဲတစ်ပွဲကြားထဲတွင် ရောက်သည့် စစ်သားများသည် ထိုအချိန်၌ မည်သူ၏ အမိန့်ကိုမျှ နာခံခြင်းမပြုကြတော့ဘဲ ထိုအချိန်၊ ထိုကာလ တွင် ၎င်းတို့၏ရင်ထဲ၌ ပေါ်လာသော ၎င်းတို့၏စိတ်ဆန္ဒ အတိုင်း ပရမ်းပတာလုပ်တတ်ကြသည်သာ ဖြစ် လေသည်။ သို့ရာတွင် တကယ်၌ကား တိုက်ပွဲတွင် ဆုတ်ပြေးခြင်း၊ ရှေ့တက်ခြင်းစ သည့် လှုပ်ရှားမှုများသည် စစ်တပ်များ၏ အခြေအနေကို ပြောင်းလဲစေနိုင်သည် မဟုတ်ချေ။ ပို၍ ကောင်းမွန်လာအောင် ပြုလုပ်နိုင်စွမ်းရှိသည် မဟုတ်ချေ။ စစ်ပွဲ တစ်ပွဲ၌ တစ်ဖက်နှင့်တစ်ဖက် တပ်သားချင်း ပစ်ခတ်  သတ်ပုတ်ကြသောကြောင့် သေကြေသူ၊ ဒဏ်ရာရသူဟူ၍ ရှားပါးလှပါသည်။ စစ်တလင်းပေါ်သို့ ပုံသန်း ကျ ရောက် လာသည့် အမြောက်ဆန် ကျည်ဆန်များကြောင့် သေရ သည့်ဦးရေကသာ များပါသည်။ ကျည်ဆန် အမြောက်ဆန် များ မိုးသီးမိုးပေါက်သဖွယ် ကျရောက် လျက်ရှိသည့် စစ် မြေပြင်ကို တပ်သားများ ဖရိုဖရဲ စွန့်ခွာပြေးကြသည်နှင့် နောက်ပိုင်းတွင်ရှိနေသော ၎င်းတို့၏အကြီးအကဲများသည် တပ်သားများကိုစုစည်း ကာ စည်းကမ်းများဖြင့် ကွပ်ကဲကြ ၏။ ထို့နောက် ထိုစည်းကမ်းများဖြင့် အမြောက်ဆန် များ၊ ကျည်ဆန်များထဲသို့ အတင်းတိုးဝင်ကြစေပြန်၏။ အမြောက်ဆန် ကျည်ဆန်များကြားသို့ ရောက်ကြပြန်သည် နှင့်တစ်ပြိုင်နက်

တပ်သားများသည် သေဘေးကို ကြောက် လန့်ကာ စည်းမဲ့ကမ်းမဲ့ ဖရိုဖရဲ ဖြစ်လာကြပြန်ကာ လူစု လူဝေးတို့၏ အကွပ်အကဲမဲ့သော သဘာဝအတိုင်း ခြေဦး တည့်ရာသို့ ထွက်ပြေးကြပြန်ခြင်းဖြင့် သံသရာလည်လျက် ရှိသည်သာ ဖြစ်လေသတည်း။

# အခန်း ၃၄

နပိုလီယန်၏ဗိုလ်ချုပ်များဖြစ်သော ဒါဗောက်၊ နေးလ်။ မူးရတ်စသူတို့သည် တစ်ချိန်လုံး စစ်မျက်နှာအနီး တစ်ဝိုက် တွင်ရှိနေကြလျက် တစ်ခါတစ်ရံတွင် စစ်မျက်နှာအကန့်ထဲ အထိ ဝင်ရောက်သွားကြကာ စည်းကမ်းသေဝပ်သော စစ်တပ်ကြီးများကို တစ်တပ်ပြီးတစ်တပ် စစ်မျက်နှာ အကန့်ထဲသို့ စေလွှတ်ခဲ့ကြသည်။ သို့သော်လည်း ယခု တစ်ကြိမ်တွင်မူ ယခင်တိုက်ပွဲများကဲ့သို့ ရန်သူများ ဆုတ်ခွာထွက်ပြေးကြပြီ ဟူသောသတင်းကို ကြားရခြင်းမရှိဘဲ စည်းကမ်းသေဝပ်ပါသည် ဆိုသော မိမိ၏တပ်သားများ သည် အကြောက်ကြောက် အလန့်လန့် အကွဲကွဲအပြပြ အအုပ်အစည်းပျက်လျက် ဆုတ်ခွာလာ ခဲ့ခြင်းကို တွေ့ရ ၏။ ပြင်သစ် ဗိုလ်ချုပ်များသည် ဖရိုဖရဲ ဆုတ်ခွာလာခဲ့ကြ သောတပ်များကို ပြန်လည်စုစည်းခြင်း ပြုကြသော်လည်း တပ်သားများ၏အရေအတွက်မှာ နည်းသည်ထက် နည်း လာခဲ့လေပြီ။ မွန်းတည့်ချိန်တွင်ကား ဗိုလ်ချုပ်ကြီး မူးရတ် သည် တပ်ကူတောင်းရန်အတွက် မိမိတပ်ရေးကို နပိုလီယန် ထံ စေလွှတ်လိုက်လေသည်။

- ထိုအချိန်တွင် နပိုလီယန်သည် ရှီဗာဒီနိုတောင် ကုန်းခြေရင်းတွင်ထိုင်၍ အမွှေးနံ့သင်းသောအရက်ချိုကို သောက်လျက်ရှိ၏။ ဗိုလ်ချုပ်မူးရတ်၏တပ်ရေးသည် မြင်း ကို ကဆုန်ချ၍စီးခဲ့ကာ ဘုန်းတော်ကြီးသော ဧကရာဇ် က နောက်ထပ်

တပ်မကြီးတစ်တပ်မျှ တပ်ကူဖြည့်တော် မူမည်ဆိုပါက ရုရှားတို့ စစ်ရှေ့ မည် ဖြစ်ကြောင်းဖြင့် လျှောက်တင်ခြင်း ပြုလေသည်။

"အလို တပ်ကူများ ပေးတော်မူရဦးမယ် ဟုတ်စ" နပိုလီယန်က ဗိုလ်ချုပ်မှူ ရတ်ကဲ့သို့ ဆံရှည်ထားသည့် ချောမောခံ့ညားသော လူငယ်ကလေးတစ်ဦးဖြစ်သူ တပ်ရေး ကိုကြည့်၍ အံ့အားသင့်ဟန်ဖြင့် ဆိုလိုက်သည်။ အင်အား နည်းပါး၍ အကာအကွယ်ကင်းမဲ့သော ရုရှားခံစစ်ကြောင်း စစ်တောင်ပံတစ်ခုကို မိမိ၏ရှိသမျှ သော စစ်သည်အင်အား တစ်ဝက်မျှဖြင့် တိုက်နေခြင်း ဖြစ်ပါလျက် အဘယ်ကြောင့် တပ်ကူတောင်းရလေသနည်းဟုလည်း နပိုလီယန် စဉ်းစား ၍မ ရအောင် ဖြစ်နေသည်။ အတန်ကြာမှ နပိုလီယန်သည် သံပြတ်ဖြင့်

"ယခုအချိန်သည် နေမွန်းတည့်ချိန်သို့ မရောက် သေး၊ ငါသည်ပင် ငါ၏စစ်တုရင်ခုံကို ယခုအထိ ကောင်း စွာမမြင်ရသေးဟု သင်တို့ဗိုလ်ချုပ်ကို ပြော လိုက်လေ"

ရုပ်ရည်ချောမော၍ ဆံပင်များ ကုပ်ပေါ်ဝဲကျလျက် ရှိသောတပ်ရေးဗိုလ် ကလေးသည် ဦးထုပ်တွင် လက် မြှောက်၍ အရိုအသေပြုထားရင်းက သက်ပြင်းကို ချ လိုက်ပြီးနောက် လူများ အစုလိုက်အပြုံလိုက် အသတ်ခံ နေရသည့်စစ်မျက်နှာ သို့ မြင်းကို ဒုန်းစိုင်း၍ စီးထွက် သွားလေသည်။

နပိုလီယန်သည် ထိုင်ရာမှထ၍ ပြင်သစ်စစ်သူကြီး တစ်ဦးဖြစ်သူ ဘာသီး ယား၊ ပြင်သစ်ဗိုလ်ချုပ်နှင့် ပြင်သစ် သံတော်ကြီးတစ်ဦးဖြစ်သူ ကော်လာနကူးတို့ ကို ရှေ့သို့ ဆင့်ခေါ်၍ ၎င်းတို့နှင့်အတူ စစ်ရေးစစ်ရာနှင့် ပတ်သက် ခြင်းမရှိသော အကြောင်းအရာများကို ပြောဆိုလျက် ရှိ လေသည်။

ဤသို့ စကားပြောဆိုနေကြသည်ကို နပိုလီယန် ကိုယ်တိုင် စိတ်ပါဝင်စားနေ ချိန်၌ နောက်လိုက် နောက်ပါ များခြံရံ၍ ပါးစပ်မှ အမြှုပ်တစီစီထလျက်ရှိသော

မြင်း တစ်ကောင်ကို ဒုန်းစီးကာ မိမိတို့ရှိရာ တောင်ပူစာခြေရင်း  သို့ လာနေသော စစ်ဗိုလ်ချုပ်တစ်ဦးကို စစ်သူကြီးဘားသီး ယား မြင်လိုက်လေသည်။ ထိုသူကား ပြင်သစ်စစ်ဗိုလ်ချုပ် တစ်ဦးဖြစ်သူ ဘဲလိဃာ့ဒ် ပေတည်း။ ဘဲလိယာဒ်သည် မြင်း ပေါ်မှဆင်းသက်၍ ဘုရင်ကေရာဇ် နပိုလီယန်ရှေ့ တွင် အလျင်အမြန် ဝင်ရောက် ခစားကာ တပ်ကူများ စေ လွှတ်ပါမည့်အကြောင်း ကျယ်လောင်စွာလျှောက်တင် ခြင်း ပြုလေသည်။ ဘုန်းတော်ကြီးသော ဘုရင်ကေရာဇ်က ( တပ်မကြီးတစ်တပ် ကို စစ်ကူလွှတ်နိုင်မည်ဆိုလျှင် ရုရှား တို့ စစ်ပျက်မည် မြေကြီးလက်ခတ်မလွဲ ဖြစ်ကြောင်း ပြော ဆိုလေသည်။

နပိုလီယန်သည် ပခုံးကိုတွန့်၍ တစ်စုံတစ်ရာပြော ဆိုခြင်း မပြုဘဲ ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်လျက် ရှိ၏။ ဗိုလ်ချုပ်ဘဲလိဗော့ဒ်ကား ထို အကြောင်းကို အနီးရှိ စစ်သူကြီးအား ကျယ်လောင်စွာပြောဆိုလျက်ရှိလေသည်။

နပိုလီယန်သည် ခေါက်တုံ့ခေါက်ပြန်လမ်းလျှောက် နေရာမှ ဗိုလ်ချုပ် ဘဲလိ ဃာ့ဒ်ထံသို့ လျှောက်လာခဲ့၏။

"ဟယ် ဘဲလိဃာ့ဒ်၊ ဤမျှတုန်လှုပ်ခြင်း ဖြစ်ရာ သလော၊ သင့်စကား မှားအံ့ ငါထင်သည်။ တိုက်ပွဲတစ်ပွဲ ပြင်းထန်စွာ ဖြစ်ပွားနေချိန်တွင် အမှားအယွင်းရှိစမြဲ သာ ဖြစ်သည်၊ သင်ကိုယ်တိုင် ထပ်မံ၍ကြည့်ချေဦး၊ သေချာစွာ ကြည့်ပြီးမှ ငါ့ထံ ပြန်လာခဲ့"

ဗိုလ်ချုပ်ဘိလိယာဒ် ထွက်သွား၍ မကြာမီ စစ် မျက်နှာတစ်နေရာမှ ဆက် သားတစ်ဦး ရောက်ရှိလာပြန် သည်။

"ဆိုစမ်း မောင်မင်း၊ ဘာလျှောက်တင်ချင်ပြန် ပြီလဲ "

အေးဆေးစွာ မနေရသဖြင့် စိတ်တိုလျက်ရှိသူ တစ်ဦး၏အသံမျိုးဖြင့် နပိုလီယန်က မေး၏။

“မှန်လှပါ ဗိုလ်ချုပ်မှူးရတ်က” တပ်ရေးက လျှောက်၏။

“ငါသိပြီ၊ သင်တို့ တပ်ကူ တောင်းပြန်ပြီ မဟုတ် လား” နပိုလီယန်က ဒေါသထွက်လျက် မေးလိုက်၏။

တပ်ရေးသည် ဟုတ်မှန်ကြောင်း ဦးညွတ်၍ပြလိုက် ပြီး ထပ်မံလျှောက်တင်မည်အပြုတွင် နပိုလီယန်သည် တပ်ရေးထံမှ လှည့်ထွက်လာခဲ့လေသည်။ တစ်ဖန်ပြန်သွား ပြီးနောက် စစ်သူကြီး ဘာသီးယားကို ဆင့်ခေါ်လိုက်၏။

”အရန်တပ်များကို စစ်ကူ ပို့ရချေတော့မည်။ မည်သူ့တပ်ကို စစ်ကူပို့သင့်သည် ထင်သနည်း”ဟု ဘာ သီးယားကို မေးလိုက်သည်။ (ဘာသီးယားနှင့် ပတ်သက် ၍ “သင်းကို ငန်းကောင်ပေါက်ကလေးဘဝမှ လင်းယုန် ငှက်ကြီး ဖြစ်အောင် ငါ လုပ်ပေးရခြင်းဖြစ်သည်” ဟု နပို လီယန်က မကြာခဏ ပြောလေ့ရှိသည်။)

”မှန်လှပါ၊ ဗိုလ်ချုပ်ကလေပါရေဒီ၏ တပ်မကြီး ကိုစေလွှတ်က သင့်မြတ်ပါမည်” တပ်မကြီးများ၊ တပ်ရင်း များ၊ တပ်ခွဲများစာရင်းကို နှုတ်တိုက်ရသော ဘာ သီးယား က လျှောက်၏။

နပိုလီယန်သည် ခေါင်းကိုပိတ်လိုက်၏။

တပ်ရေးသည် ဗိုလ်ချုပ်ကလေပါရေဒီ၏ တပ်မ ကြီး စခန်းချရာသို့ မြင်းကို ကဆုန်စီး၍ထွက်သွားလေရာ မိနစ်အနည်းငယ်အကြာ၌ကား တောင်ကုန်း နောက်တွင် တပ်စွဲထားသော ဗိုလ်ချုပ်ကလေပါရေဒီ၏ ပျို့ရွယ်နုနယ် သော

တပ်သားများသည် စစ်မျက်နှာဆီသို့ ချီတက် လှုပ်ရှားနေခြင်းကို မြင်ရ၏။ နပိုလီယန်သည် တပ်များ ချီတက်နေသည်ကို တိတ်ဆိတ်စွာ မျှော်ကြည့်လျက် ရှိ၏။

"မဟုတ်သေးဘူး မောင်မင်း၊ ကလေပါရေဒီ၏ တပ်မကြီးကို ငါ စေလွှတ်ခြင်း မပြုနိုင်သေး၊ သင်း၏ တပ်မ ကြီးအစား ဖရိုင်းယန့်၏တပ်မကြီးကို ချီတက်စေရမည်" နပိုလီယန်က ဘာသီးယားကို ပြောလိုက်၏။

စင်စစ်၌ ကလေပါရေဒီ၏ တပ်မကြီးအစား ဖရိုင်း ယန့်၏ တပ်မကြီးကို စေလွှတ်ခြင်းဖြင့် ထူး၍ အကျိုးများ လာသည် မဟုတ်ချေ။ အကျိုးမများရုံမျှမက စစ်မျက်နှာ အကန့်ထဲသို့ ဝင်စပြုနေသော ကလေပါရေဒီ၏ တပ်မ ကြီးကို ပြန်၍ ရုပ်သိမ်းခြင်း၊ ဖရိုင်ယန့်၏တပ်မကြီးကို နောက်ထပ်စေလွှတ်ခြင်းတို့ကြောင့် အချိန်နှောင့်နှေးခြင်း၊ အခက်အခဲတွေ့ခြင်းတို့ပင် ရှိသေး၏။ သို့ရာတွင် နပို လီယန်၏အမိန့်အတိုင်း တစ်သဝေမတိမ်း ဆောင်ရွက်ရ သည်သာဖြစ်လေသည်။ ဆေးသမားသည် မိမိတို့၏ ဆေး ဝါးနှင့် ပတ်သက်လာလျှင် "ငါ့ပြင်မရှိ" ဟူသော မာနမျိုး ဖြင့် ဆေးအဖုံဖုံကို ရေလဲထုတ်သုံးစွဲ၍ သမားဂုဏ်ပြကြ သော်လည်း နောက်ဆုံးတွင် ဘာမျှအရာမထင်ဘဲ လူနာ၏ . ရောဂါ ပျောက်ကင်းမှု ကြန့်ကြာခြင်းကို ဖြစ်စေသကဲ့သို့ (နပိုလီယန်သည် ဆေးသမားများ၏ ဤသို့ သမားဂုဏ် ပြတတ်သောသဘာဝကို ကောင်းစွာနားလည်၍ စက်ဆုပ် ရွံ့မုန်းသူဖြစ်သည်။ ဤအချက်တွင်ကား နပိုလီယန် မှန် ပါသည်။) မိမိ၏စစ်တပ်များနှင့် ပတ်သက်လာလျှင် မိမိ မှာလည်း ထိုသို့ ဆေးအဖုံဖုံဖြင့် သမားဂုဏ်ပြတတ်သော ဆေးသမား၏အဖြစ်နှင့် ဘာမျှ ခြားနားခြင်း မရှိကြောင်း ကိုကား နပိုလီယန် ကိုယ်တိုင် သတိထားမိဟန် မတူချေ။

ဖရိုင်းယန့်၏ တပ်မကြီးများသည် အခြားအခြား သောတပ်များကဲ့သို့ စစ်မြေပြင်ထက်တွင် ဖုံးလွှမ်းလျက် ရှိသော မီးခိုးလုံးများကြားတွင် ပျောက်ကွယ်

သွား၏။ တပ်ရေးများသည် စစ်မျက်နှာအသီးသီးမှ မြင်းများဖြင့် ဒုန်းစိုင်းရောက်ရှိလာကြကာ အချင်းချင်း တိုင်ပင်ထားသည့် ပမာ တစ်မျိုးတည်းသောစကားကိုသာ ဆိုကြ၏။ ၎င်းတို့ အားလုံးက စစ်ကူပို့ရန် တောင်းဆိုကြကာ ရုရှားတို့ နောက် မဆုတ်ဘဲ အပြင်းအထန် ခုခံလျက်ရှိကြောင်း၊ ၎င်းတို့က အမြောက် မြတပ်မှူးများ သည်းထန်စွာပစ်လွှတ်သည်ဖြစ်၍ ပြင်သစ်တို့ အထိအရှုများလှကြောင်းဖြင့် ပြောဆိုကြလေ သည်။

နပိုလီယန်ကား ရွက်ဖျင်ခေါက်ကုလားထိုင်တွင် ထိုင်ကာ အတွေးနယ်ချဲ့လျက် ရှိလေသည်။

ခရီးသွားဝါသနာပါသည်ဟု နပိုလီယန်၏ အရေး တယူပြောဆိုခြင်းကို ခံရသည့် ဝင်းမှူးကြီး ဒီဗျူးဆေးမှာ နံနက်ကတည်းက ဘာမျှမစားရသေးသဖြင့် ဧကရာဇ်ဘုရင် နပိုလီယန်ရှေ့သို့ဝင်ကာ နံနက်စာသုံးဆောင်ရန် အရဲစွန့် ၍ လျှောက်တင်ခြင်း ပြုလေသည်။

“မှန်လှပါ ဘုန်းတော်ကြောင့် တပ်တော်များ အောင်ပွဲခံနေသည်ထင်ပါ့ဘုရား” ဝင်းမှူးကြီး ဒီဗျူးဆေး က လျှောက်၏။

နပိုလီယန်က မည်သို့မျှ ပြန်မပြောဘဲ ခေါင်းကို ယမ်းလိုက်သည်။ ဤတွင် နပိုလီယန်က ခေါင်းယမ်းပြ ခြင်းမှာ အောင်ပွဲရခြင်းမဟုတ်ဟု ဆိုလိုခြင်းသာဖြစ်၍ - နံနက်စာစားရန် ရည်ရွယ်ပြောဆိုခြင်းမဟုတ်ဟု ဝင်းမှူး ကြီး ဒီဗျူးဆေးက အနက်ကောက်လိုက်ကာ နံနက်စာကို သုံးဆောင်ရန် အချိန်ရလျက်နှင့် မသုံးဆောင်ရဘဲ မနေသင့် ကြောင်းဖြင့် အရဲစွန့်ကာ ခပ်ရှင်ရှင်ကလေး လျှောက်တင် လိုက်သည်။ . “သွားစမ်း မောင်မင်း” နပိုလီယန်သည်  ထန်စွာအော်လိုက်ပြီး နောက် တစ်ဖက်သို့ လှည့်လိုက်၏။

နပိုလီယန် ကြိမ်းမောင်းခြင်းကို ခံရသည့်အတွက် နောင်တဖြစ်ခြင်း၊ ဝမ်းမြောက်ခြင်း၊ ပီတိဖြစ်ခြင်း စသည့် ဝေဒနာတို့ ရောပြွမ်းဖုံးအုပ်လျက်ရှိသော အပြုံးသည် ဝင်းမှူး ကြီး ဒီဗျူးဆေး၏မျက်နှာတွင် အထင်းသား ပေါ်လာလေ သည်။ ထို့နောက် ဝင်းမှူးကြီး ဒီဗျူးဆေးသည် အခြား စစ်ဗိုလ်ချုပ်များထံသို့ ထွက် လာခဲ့လေသည်။

အမြဲတမ်း ကံကောင်းသော ကစားသမားတစ် ယောက်သည် နိုင်လိမ့်နိုးနိုး နှင့် ရှိသမျှကို ပုံအောပြီးသည့် နောက် ကစားဝိုင်း၏အလားအလာကို တွက် ကြည့်၍ မိမိ သေချာပေါက် ရှုံးတော့မည်ဟု သိလိုက်ရသည့်အခါ၌ ပြင်းစွာ တုန်လှုပ်ချောက်ချားခြင်းဖြစ်လျက်ရှိသကဲ့သို့ စစ်ပွဲ တိုင်း နိုင်ခဲ့သော နပိုလီယန်မှာ လည်း ယခုအကြိမ်တွင် စိတ်ချောက်ချားလျက် ရှိလေပြီ။

မိမိ၏စစ်တပ်များ၊ စစ်ဗိုလ်ချုပ်များ၊ ပြင်ဆင်မှု များ၊ စစ်အင်္ဂါစဉ်များ၊ အမိန့်ပြန်တမ်းများသည် ယခင်က ကဲ့သို့ပင် ပြည့်စုံကောင်းမွန်သည်သာ ဖြစ်၏။ မိမိကိုယ်တိုင် လည်း ယခင်ကကဲ့သို့ပင် ကြီးကြပ်ကွပ်ကဲသည်သာဖြစ် ၏။ ထိုမျှ မက ယခင်စစ်ပွဲများကထက်ပင် အတွေ့အကြုံ ကြွယ်ဝကာ စစ်ရေးစစ်ရာ၌ ကျွမ်းကျင်လာခဲ့ပေသေး သည်။ ရန်သူ၏ တိုက်ရည်ခိုက်ရည်မှာ သြစတားလစ် စစ်ပွဲ နှင့် ဖရိလင်းစစ်ပွဲများမှာကဲ့သို့ပင် ဖြစ်သည်။ ထို့ထက် ဘာမှ မထူးခြား။ သို့ တိုင်အောင် နပိုလီယန်၏ အားခွန် ဗလကြီးမားသောလက်ရုံးကြီးသည် ယုံနိုင်စရာ မရှိလောက် အောင် လှုပ်ရှားခြင်း မပြုနိုင်တော့ဘဲ အစွမ်းသတ္တိကင်းမဲ့ လျက် ရှိ လေပြီ။

အမြောက်တပ်များအား တစ်နေရာတည်းသို့ စုပြုံး ပစ်ခတ်စေခြင်း၊ ရန်သူ၏ခံစစ်ကြောင်းကို အရန်တပ်များ အား ထိုးဖောက်တိုက်စေခြင်း၊ "သံမဏိ လက်ရွေးဗိုလ်" များဟုခေါ်သော မြင်းတပ်ဖြင့်တိုက်စေခြင်း စသည့် ယခင့် ယခင်

စစ်ပွဲများတွင် အသုံးပြုခဲ့သော နည်းလမ်းများသည် အောင်မြင်ခြင်းသရဖူကို ဆောင်းခဲ့ကြသည်သာ ဖြစ်၏။ ယခု တိုက်ပွဲ၌ ထိုနည်းလမ်းများအားလုံးကိုလည်း အသုံး ပြုပြီးခဲ့လေပြီ။ သို့တိုင်အောင် အောင်ပွဲ ရခြင်းမရှိဘဲ မိမိ ဗိုလ်ချုပ်များ ကျ ဆုံးဒဏ်ရာရသည့် သတင်းများ၊ စစ်ကူ လိုသည့်သတင်းများ၊ ရုရှားတို့ခံတပ်ကို ထိုး ဖောက်၍ မရ နိုင်ဆိုသောသတင်းများ၊ မိမိ၏တပ်များ ဖရိုဖရဲဖြစ်လျက် အအုပ် အစည်းပျက်နေပြီဆိုသည့် သတင်းများသာ စစ် မျက်နှာအသီးသီးမှ ရောက်၍ လာ ခဲ့ကြလေသည်။

ယခင်ကဆိုလျှင် မိမိက အမိန့်ပြန်တမ်း နှစ်စောင်၊ သုံးစောင်ထုတ်လိုက်ရုံ၊ စကားတစ်ခွန်း နှစ်ခွန်းပြောလိုက် ရုံမျှဖြင့် စစ်သူကြီးများနှင့် တပ်ရေးများသည် ရွှင်ပြုံးသော မျက်နှာများဖြင့် ဒုန်းစိုင်း၍ရောက်လာကြကာ ရန်သူ သို့ပန်း မည်ရွေ့မည်မျှ ဖမ်းမိကြောင်း၊ ရန်သူစစ်တံခွန်၊ ရန်သူစစ်တလေး မည်ရွေ့မည်မျှ သိမ်းဆည်းရမိကြောင်း၊ ရန်သူ အမြောက်မြတပူများနှင့် ရိက္ခာပစ္စည်းများ မည်ရွေ့ မည်မျှရရှိကြောင်း တင်ပြလျက် ဘုန်းတော်ကြောင့် နိုင်ပေ သည်ဟု ချီးကျူး ထောမနာပြုကြ၏။ ဗိုလ်ချုပ်မူးရတ်အဖို့ လည်း လက်နက်ပစ္စည်းများကိုသယ်ရန် မြင်းတပ်ကို ဖြုတ်စေ၍ ဝန်တင်လှည်းများကိုဆွဲရန် အမိန့်ထုတ်ပြန် လိုက်ရုံသာ ရှိ၏။ လိုဒီ၊ မာရင်ဂို ၊ အာကိုလာ၊ ဂျီနာ၊ ဩ စတားလစ်၊ ဝါဂရန် စသည့် စစ်ပွဲများ၌ ဤသို့ အလွယ် တကူ အောင်မြင်ခဲ့သည်သာဖြစ်၏။ သို့ရာတွင် ယခုသော် ကား မိမိ၏တပ်များသည် မကြုံစဖူး ထူးကဲသောအခြင်း အရာတို့ကို တွေ့ကြုံနေချေပြီ။

ရုရှားစစ်တပ်များကို သိမ်းပိုက်လိုက်ပြီဟူသော သတင်းများကို ရရှိ သော်လည်း ထိုသိမ်းပိုက်ခြင်းသည် ယခင်တိုက်ပွဲများတုန်းက သိမ်းပိုက်ခြင်းမျိုး မဟုတ်ကြောင်း ကို နပိုလီယန် ကောင်းစွာသိ၏။ ထိုအောင်ပွဲသည် ယခင် အောင်ပွဲများနှင့် လားလားမျှ မတူကြောင်းကို နပိုလီယန် သဘောပေါက်၏။ မိမိ စိတ်ဓာတ် ချောက်ချားလျက် ရှိ သကဲ့သို့ မိမိအပါးတွင် ခစားလျက်ရှိသော စစ်သေ

နဂ် ဗျူဟာအတတ်ကိုကျွမ်းကျင်သည့်ပုဂ္ဂိုလ်များပါ စိတ်ဓာတ် ချောက်ချား လျက်ရှိခြင်းကိုလည်း နပိုလီယန်သိသည်။ ၎င်းတို့အားလုံး၏မျက်နှာများသည် ညှိုးငယ်လျက်ရှိကာ တစ်ယောက်နှင့်တစ်ယောက် မျက်လုံးချင်းမဆိုင်မိအောင် ရှောင်နေကြ၏။ ဖြစ်ပျက်နေသော အခြင်းအရာများကို သဘောမပေါက်သူမှာ ဝင်းမှူးကြီး ဒီဗျူးဆေးတစ်ဦးတည်း သာ ရှိပေသည်။

သို့ရာတွင် နပိုလီယန်သည် နလပိန်းတုံး မဟုတ် ချေ။ ရန်သူကို ရှစ်နာရီ လုံးလုံး မီးကုန်ယမ်းကုန် ထိုးစစ် ဆင်ပါလျက် ထိုးစစ်ဆင်သည့်ဘက်မှ ယခုတိုင် ရန်သူ  ခံစစ်ကြောင်းကို မထိုးဖောက်နိုင်သေးခြင်းမှာ မည်သည့် အဓိပ္ပာယ်ဆောင် ကြောင်းကို နပိုလီယန်သည် စစ်အတွေ့ အကြုံ ကြွယ်ဝသူပီပီ ကောင်းစွာသိရှိပေ သည်။ တိုက်ပွဲ တစ်ပွဲကို ဤမျှကြာအောင်တိုက်နေရလျှင် ထိုတိုက်ပွဲသည် ရှုံး သောတိုက်ပွဲတစ်ပွဲမျှသာ ဖြစ်သည်ကို လည်းကောင်း၊ တစ်နေရာတည်း၌ ဘတစ် ပြန် ကျားတစ်ပြန် ဤမျှတိုက် နေရချိန်တွင် မိမိဘက်က ခြေလှမ်းတစ်ချက်မှား လိုက် သည်နှင့် တစ်ပြိုင်နက် မိမိနှင့်တကွ မိမိ၏စစ်တပ်ကြီး တစ်တပ်လုံး ပြုတ်ပြုတ်ပြုန်းနိုင်သည်ကိုလည်းကောင်း နပိုလီယန်ကောင်းစွာသိပေသည်။

ရုရှားနိုင်ငံကြီးကို ဝင်ရောက်တိုက်ခိုက်ခဲ့သည်မှာ နှစ်လမျှ ကြာခဲ့လေပြီ။ သို့သော်လည်း ယခုအထိ တိုက်ပွဲ တစ်ပွဲမျှ အနိုင်မရသေးချေ။ ရန်သူ၏ အလံတစ် လက်မျှ မသိမ်းခဲ့မိသေးချေ။ သံ့ပန်းတစ်ယောက်မျှ မမိခဲ့သေးချေ။ ရန်သူ အမြောက် တစ်လက်မျှ မရခဲ့သေးချေ။ ဤအခြင်း အရာများကို စဉ်းစားလိုက်မိ သည့်အခါ၌ လည်းကောင်း၊ ညှိုးငယ် စိတ်ပျက်ခြင်းကို ကြိုးစားဖုံးကွယ်ထားကြ သော မိမိအပါးတွင် ခစားသူများ၏ မျက်နှာများကို မြင်လိုက် ရသည့်အခါ၌ လည်းကောင်း၊ ရုရှားများက ၎င်းတို့၏ ခြေကုပ်စခန်းများမှ နောက်ဆုတ်မပေးကြ ဘဲ အသေအလဲ ခုခံနေသည်ဟူသော သတင်းများကို ကြားလိုက်ရသည့် အခါ၌ လည်းကောင်း နပိုလီယန်သည် ဘီလူးစီးခံရသူ ကဲ့သို့ ကြီးစွာတုန်လှုပ်ချောက်ချား

ခြင်းဖြစ်လျက် ပျက်စီး ခြင်းသို့ ရောက်ရချေတော့မည်ဟူသော စိုးရိမ်စိတ်များ သည်လည်း တဖွားဖွားပေါ်ပေါက်လာကြလေသည်။ ရုရှား တို့သည် မိမိခံစစ်ကြောင်း၏လက်ဝဲတောင်ပံကို တိုက်ကြ ချေတော့မည်လော။ မိမိခံစစ်ကြောင်းဗဟိုချက်မကို ထိုး ဖောက်ကြချေတော့မည်လော သို့တည်းမဟုတ် တစ်နေရာ ရာမှ ပစ်လိုက်သော အမြောက်ဆံတစ်ခုသည်ပင် မိမိကို လာ၍ထိမှန်ချေတော့မည်လောဟု အမျိုးမျိုး တွေးတော စိုးရိမ်လျက်ရှိပေသည်။ ဤအရာများအားလုံးသည် အချိန် မရွေးဖြစ်နိုင်ကြသည်သာ ဖြစ်ပေသည်။ ယခင်တိုက်ပွဲများ တုန်းကမူ နပိုလီယန်သည် စစ်နိုင်မည့်အလားအလာများ ကိုသာ တွေ့ခဲ့၏။ ယခုကား မိမိအား ကံဆိုးမိုးမှောင်ကျ စေမည့်နိမိတ်များသည် ထင်ရှားပြလျက်ရှိကြချေပြီ။ နပို လီယန်သည် ဤအရာများအားလုံးကို တွေးတောကာ စိုးရိမ်  ထိတ်လန့်လျက် ရှိလေသည်။ မှန်ပါသည်။ ထိုအခြင်းအရာ များသည် နပိုလီယန်အဖို့ ချောက်အိပ်မက်ကဲ့သို့ ဖြစ်လျက် ရှိ၏။ ချောက်အိပ်မက်ထဲ၌ မိမိအားသတ်မည့် လူဆိုးကြီး တစ်ဦးကို ပြန်လှန်သတ်ပုတ်ရန် ကြိုးစားသော်လည်း လက် များသည် မြှောက်၍မရတော့ဘဲ အဝတ်စုတ်ဖတ်ကြီးသဖွယ် တွဲလောင်းကျကာ အားကုန်ခန်းလျက်ရှိခြင်းကို တွေ့ရသည့် အခါ၌ မိမိအသက်ဆုံးရှုံးရတော့မည်ဟု ကြီးစွာထိတ်လန့် တုန်လှုပ်ချောက်ချားခြင်း ဖြစ်ရသကဲ့သို့ နပိုလီယန်သည် လည်း ကြီးစွာတုန်လှုပ်ချောက်ချားလျက် ရှိလေသည်။

ပြင်သစ်စစ်ကြောင်း၏ လက်ယာတောင်ပံကို ရုရှား တပ်များက တိုက်ခိုက်လျက်ရှိကြောင်း ကြားသိရသည့် အခါ၌ကား နပိုလီယန်သည် ချောက်ချားသည်ထက် ချောက်ချားခဲ့လေပြီ။ နပိုလီယန်သည် ရှီဗာဒီနိုတောင်ကုန်း ခြေရင်းတွင် ရွက်ဖျင်ခေါက်ကုလားထိုင်ခင်း၍ ထိုင်ကာ ခေါင်းငုံ့ထားပြီး တံတောင်ဆစ်နှစ်ဖက်ကို ဒူးတွင် တင် ထား၏။ ဗိုလ်ချုပ်ဘာသီးယားသည်ရှေ့သို့ဝင်ကာ အခြေ အနေကို

အတိအကျသိနိုင်ရန် စစ်ကြောင်းတစ်လျှောက် လှည့်လည်စစ်ဆေးသင့်ကြောင်း ဖြင့် လျှောက်တင်၏။

"ဘာ ဘာ ဘာပြောတယ် မောင်မင်း၊ အိမ်း၊ မောင်မင်းအကြံသင့်တယ်၊ ငါ့ အတွက် မြင်းပြင်ခိုင်း လိုက်စမ်း" နပိုလီယန်က ပြော၏။

နပိုလီယန်သည် မြင်းစီးကာ ဆင်မြီနော့ရွာဘက် သို့ ထွက်လာခဲ့၏။

နပိုလီယန်သည် ယမ်းခိုးမီးခိုးများ တလူလူဖုံးအုပ် လျက်ရှိသော စစ်ကြောင်း တစ်လျှောက်ကို စီး၍လာခဲ့လေ ရာ လမ်းတစ်လျှောက်တွင် တစ်ယောက်ချင်း တစ်ယောက် ချင်းသော်လည်းကောင်း၊ အစုလိုက် အပြုံလိုက်သော်လည်း ကောင်း၊ သွေးအိုင်များထဲတွင် လဲကျသေဆုံးလျက်ရှိသော တပ်သားများ၊ မြင်းများဖြင့် တင်း ကြမ်းပြည့်လျက် ရှိ၏။ ဤမျှလောက် သေးငယ်သော နေရာကလေးတစ်ဝိုက်၌ ဤမျှလောက် များပြားသော အလောင်းကောင်များ စုပုံ နေခြင်းကို နပိုလီယန် သော်လည်းကောင်း၊ ၎င်း၏ စစ် ဗိုလ်ချုပ်များသော်လည်းကောင်း ယခင်က တစ်ခါ မျှ မမြင်ဖူးခဲ့သေးချေ။ ဆယ်နာရီလုံးလုံး မရပ်မနားပစ်ခတ် လျက်ရှိသော အမြောက်ကြီးများကလည်း နားပွင့်ကွဲလု မတတ် မြည်ဟီးလျက်ရှိကြလေရာ ဂီတ သံသည် ပြဇာတ် ကြီးတစ်ခု၏ရှုခင်းကို လေးနက်ခမ်းနားစေသကဲ့သို့ ထို ပစ်ခတ် သံများသည်လည်း စစ်တလင်း၏ရှုခင်းကို လေး နက်ခမ်းနားခြင်း ဖြစ်စေလေ၏။ နပိုလီယန်သည် ဆင်မြီ နော့ရွာထိပ်ရှိကုန်းမြင့်ပေါ်သို့ တက်လာခဲ့လေရာ မိမိမြင် နေကျ မဟုတ်သော စစ်ဝတ်စုံ ဝတ်ထားသည့်တပ်များကို မီးခိုးလုံးများကြားမှ မြင် ရလေသည်။ ထိုတပ်များကား ရုရှားတပ်များပင်တည်း။

ရုရှားတပ်များသည် ဆင်မြီနော့ရွာနှင့် ဆင်မြီနော့ တောင်ပူစာ၏နောက်ကျောဘက်တွင် စုရုံးလျက် ရှိကြ၍ ၎င်းတို့၏ခံစစ်ကြောင်း တစ်လျှောက်ရှိ အမြောက်ကြီးများ ကလည်း မရပ်မနားပြိုင်၍ ပစ်ခတ်လျက်ရှိ

သဖြင့် ပတ် ဝန်းကျင်တစ်ဝိုက်တွင် မီးခိုးလုံးကြီးများ ဖုံးအုပ်လျက် ရှိ လေသည်။ ဤအခြင်းအရာကား စစ်ပွဲဟုပင် မခေါ်သင့် တော့ချေ။ ရုရှားများအဖို့ သော်လည်းကောင်း၊ ပြင်သစ်များ အဖို့သော်လည်းကောင်း မည်သူ့အဖို့မျှ အကျိုးမ များသော တရစပ်လူသတ်ပွဲကြီးသာ ဖြစ်တော့သည်။ နပိုလီယန်သည် မြင်းဇက်ကိုသတ်၍ အတန်ကြာမျှ စဉ်းစားလျက်ရှိလေရာ ဗိုလ်ချုပ်ဘာသီးယားက သတိပေးမှ သတိပြန်ရလာလေ သည်။ နပိုလီယန်သည် မိမိရှေ့မှောက်တွင်လည်းကောင်း၊ မိမိပတ်ဝန်းကျင်တွင်လည်းကောင်း ဖြစ်ပွားလျက်ရှိသည့် လူသတ်ပွဲကြီး၊ မိမိက စီစဉ်ညွှန်ကြား၍ မိမိအပေါ်တွင် အဆုံးအဖြတ်တည်နေသည်ဟု ထင်ရသော လူသတ်ပွဲကြီး ကို တားဆီးခြင်းငှာ မတတ်နိုင်တော့ချေ။ မိမိ၏တပ်များ အရေးနိမ့်ခြင်းကို မြင်ရသည့်အခါတွင် စစ်တိုက်ခြင်းအလုပ် သည် ကြောက်ဖွယ်လည်းကောင်း၍ လိုလားအပ်ခြင်းလည်း မရှိသော အလုပ်တစ်ခု ဖြစ်ကြောင်းကို ပထမဆုံးအကြိမ် နပိုလီယန် ယူဆခဲ့လေပြီ။

ထိုအခိုက် ပြင်သစ်ဗိုလ်ချုပ်တစ်ဦးသည် မြင်းစီး ၍ အပါးသို့ရောက်လာကာ ကိုယ်ရံတော်တပ်များကို ဝင် ရောက်တိုက်ခိုက်စေသင့်ကြောင်းဖြင့် အရဲစွန့်၍ လျှောက် လိုက်သည်။ နပိုလီယန်၏အနီးတွင် ရပ်နေကြသော ဗိုလ် ချုပ်ဘာသီးယားနှင့် ဗိုလ်ချုပ် နေးလ်တို့သည် ထိုဗိုလ်ချုပ် ၏အဓိပ္ပာယ်ကင်းမဲ့သော စကားကြောင့် တစ်ယောက် မျက်နှာ တစ်ယောက်ကြည့်ကာ လှောင်ပြုံး ပြုံးလိုက်ကြ၏။

နပိုလီယန်သည် ခေါင်းငိုက်စိုက်ချကာ အချိန် အတော်ကြာမျှ တိတ်ဆိတ်လျက်ရှိသည်။

“အမိ ပြင်သစ်နိုင်ငံတော်ကြီးက မိုင်ပေါင်း နှစ် ထောင်ကျော်ဝေးတဲ့ အရပ်ဒေသမှာ ငါ၏ကိုယ်ရံတော် တပ်တွေကို အပျက်အစီး အဆုံးရှုံးမခံနိုင်ဘူး

မောင်မင်း”

နပိုလီယန်သည် ဤမျှသာပြောကာ မြင်းကို လှည့်၍ ရှိဗာဒီနိုခံတပ်ဘက်သို့ စီးလာခဲ့လေသတည်း။

# အခန်း ၃၅

နံနက်ပိုင်းက ပီယာ တွေ့မြင်ခဲ့ရသကဲ့သို့ပင် စစ်သေနာ ပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် သစ်ပင်အောက်ရှိ ကော်ဇောခင်းထားသော ခုံတန်းပေါ်တွင် ထိုင်လျက်ရှိ၏။ ၎င်း၏ ဖြူဖွေးလျက်ရှိသောခေါင်းသည် ငိုက်စိုက်ကျ လျက်ရှိ၍ လေးလံလှသော ခန္ဓာကိုယ်ကြီးမှာလည်း အရိုး အဆစ်မရှိသကဲ့သို့ ပျော့ခွေလျက်ရှိသည်။ ယခုအချိန်တွင် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မိမိ၏ တပ်များအား အမိန့်ပေးညွှန်ကြားခြင်း မပြုတော့ချေ။ ( အခြားသူများတင်ပြသည့် အကြံပေးချက်များကို သဘော တူခြင်း၊ ငြင်းဆန်ခြင်းလောက်ကိုသာ ပြုတော့သည်။

တစ်ယောက်ယောက်က အကြံပေးချက်တစ်ခု တင် ပြလိုက်သည်နှင့် "အိမ်း ဗိုလ်မင်းအကြံ သင့်ပေတယ်၊ ဒီအတိုင်းသာလုပ်၊ ဒီအတိုင်းသာလုပ်" ဟု ပြောတတ် သည်။ သို့မဟုတ်လျှင်လည်း "မဟုတ်သေးဘူး ဗိုလ်မင်း ရဲ့၊ ခင်ဗျားအကြံက စောသေးတယ်" ဟု ပြောတတ်သည်။ စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် မိမိထံ တင်ပြသောအစီရင်ခံချက်များကို တိတ်ဆိတ်စွာကြားနာ လေ့ရှိကာ လက်အောက်ငယ်များက တောင်းခံမှသာလျှင် ညွှန်ကြားချက်များကိုပေးခြင်း ပြုတော့သည်။ အစီရင်ခံ ချက်များကို ကြားနာလျက်ရှိစဉ် အတောအတွင်း၌လည်း စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်မှာ အစီရင်ခံ ချက်များ၏အနက် အဓိပ္ပာယ်ကို စိတ်ဝင်စားပုံမရဘဲ အစီ ရင်ခံချက်ပေးပို့သူ၏ မျက်နှာရိပ် မျက်နှာကက် နှင့် အသံနေ အသံထားလောက်ကိုသာ သတိထားလျက်ရှိပုံရ၏။ သေ ခြင်းနှင့် နပန်းလုံးလျက်ရှိသော "လူထောင်ပေါင်းများစွာ ကို လူတစ်ယောက်တည်းက အမိန့်ပေးညွှန်ကြားရသည့် အလုပ်သည် ဖြစ်နိုင်သောအလုပ်တစ်ခု မဟုတ်

ကြောင်းကို  ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ရှည်လျားသော စစ်အတွေ့ အကြုံအရ လည်းကောင်း၊ အသက်အရွယ်၏ အတွေ့အကြုံ အရလည်းကောင်း သိရှိနားလည် ပြီး ဖြစ်ပေသည်။ စစ်ပွဲ တစ်ပွဲ၏အရှုံးအနိုင်ကို အဆုံးအဖြတ်ပြုသောအရာမှာ စစ် သေနာပတိချုပ်၏အမိန့်များလည်း မဟုတ်၊ တပ်များ၏ အနေအထားလည်း မဟုတ်၊ လက်နက်အင်အားလည်း မဟုတ်၊ တပ်သားအကျအဆုံးလည်း မဟုတ်ဘဲ စစ်တပ် ၏စိတ်ဓာတ်ဟုခေါ်သော ဆုပ်ကိုင်၍ မရသည့် စွမ်းအား စုကြီးသာ ဖြစ်ကြောင်းကိုလည်း ဗိုလ်ချုပ်ကြီးကူတူဇော့ဗ် " သိပြီး ဖြစ်ပေသည်။ ထို့ကြောင့် စစ်သေနာပတိချုပ် ဗိုလ် ချုပ်ကြီးကူတူဇော့ဗ်သည် ထိုစွမ်းအားစုကြီးကို မျက်ခြည် မပြတ် စောင့်ကြပ်ကြည့်ကာ ထိုစွမ်းအားစုကြီးကို အတတ် နိုင်ဆုံး လမ်းညွှန်ခြင်း ပြုလေသည်။

စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ အမှုအရာမှာ တစ်စုံတစ်ရာ ကို အာရုံစိုက်၍ ငေးမောလျက် ရှိသောအမှုအရာမျိုးဖြစ်လျက် မျက်နှာထားကား အိုမင်း ချည့်နဲ့လှပြီဖြစ်သော ခန္ဓာကိုယ်ကြီးကို ပြိုလဲမသွားအောင် အနိုင်နိုင် အားစိုက်နေရသကဲ့သို့ မချိသောအသွင်ကို ဆောင် လျက် ရှိလေသည်။

နံနက် ဆယ့်တစ်ချက်တီးအချိန်၌ ပြင်သစ်တို့ သိမ်း ပိုက်ထားသော သစ်တပ်များကို ရုရှားတပ်များက ပြန်လည်သိမ်းပိုက်ပြီ ဖြစ်ကြောင်း၊ သို့ရာတွင် မင်းသား ကြီးဘာဂရေးရှင်းမှာ ကျည်သင့်ကြောင်းဖြင့် သတင်း ရောက်ရှိလာလေ သည်။ စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ညည်းတွားကာ ခေါင်း ကို ယမ်းလိုက်၏။

“ဟို ဟို ဗိုလ်မင်းတို့ မင်းသားကြီးဆီ လိုက်သွား ပြီး အခြေအနေကို သွား ကြည့်ချေကြစမ်း” ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် တပ်ရေးတစ်ယောက်ကို

စေလွှတ်လိုက် ပြီးနောက် အပါးတွင်ရပ်လျက်ရှိသော အိမ်ရှေ့ဥပရာဇာ မင်းသားကြီးဖြစ်သော ဝါတင်ဘတ် နယ်စားကြီးဘက်သို့ လှည့်၍

”ကိုယ်တော်ကြီးက ပထမတပ်မတော်ကြီးကို ကွပ်ကဲအမိန့်ပေးရင်တော့ အတိုင်းထက် အလွန်ပဲဗျ” ဟု ပြောလိုက်လေသည်။

သို့ဖြင့် ဝါတင်ဘတ် နယ်စားကြီးသည် ပထမ တပ်မတော်ကြီးနှင့်အတူ ရှေ့တန်းစစ်မျက်နှာသို့ ချီတက်  သွားလေသည်။ သို့ရာတွင် နယ်စားကြီး ချီတက် သွား၍ ဆင်မြီနေ့ရွာအနီးလောက်မျှ မရောက်သေးမီ နယ်စား ကြီး၏တပ်ရေး သည် စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ထံပြန်ရောက်လာကာ တပ်ကူ များ တောင်းလာ လေသည်။

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မျက်နှာကိုရှုံ့လိုက် ပြီးနောက် နယ်စားကြီး လို ပုဂ္ဂိုလ်မျိုးကို ဤသို့အရေးကြီး သောအချိန်၌ မိမိအနားတွင် မရှိလျှင် မဖြစ် သေးဟု အကြောင်းပြလျက် မိမိထံသို့ပြန်လာရန် ပြောဆိုကာ ပထမ တပ်မတော် ကို ကွပ်ကဲရန်အတွက် ဗိုလ်ချုပ် ဒိုတူရော့ဗ်ကို စေလွှတ်လိုက်ပြန်သည်။ ပြင်သစ် ဗိုလ်ချုပ်မူးရတ်ကို သုံ့ပန်း အဖြစ် ဖမ်းမိကြောင်း သတင်းရောက်ရှိလာသောအခါ တွင် စစ်ဦးစီးဌာနချုပ်ဝင် ဗိုလ်ချုပ်များက ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်အား ဝမ်းသာ အားရ ကောင်းချီးပေးကြ၏။ ဗိုလ်ချုပ် ကြီး ကူတူဇော့ဗ်က ပြုံး၍

”နေကြဦး ဗိုလ်မင်းတို့၊ သိပ်လဲ ဝမ်းသာ မစောကြနဲ့ဦးဗျ၊ စစ်ပွဲမှာ ကျုပ်တို့ က အရေးသာနေတာ တော့ အမှန်ပဲ၊ ဒါပေမဲ့ မူးရတ်ကို သုံ့ပန်းအဖြစ် ဖမ်းမိ တာ လောက်နဲ့တော့ မလွမ်းလောက်သေးဘူးဗျ၊ အခြေ အနေကို စောင့်ကြည့်ကြဦးစို့”

ဗိုလ်ချုပ်ကြီးကူတူဇာဗ်သည် ဝမ်းသာအားရဖြစ် လျက်ရှိသော ဗိုလ်ချုပ်များ ကို ဟန့်လိုက်၏။ သို့ရာတွင် တပ်ရေးတစ်ယောက်စေလွှတ်၍ ထိုသတင်းကို တပ်

ထဲသို့ အဖြန့်ခိုင်းလိုက်လေသည်။

ထိုအခိုက် ဗိုလ်ချုပ်ကြီး ရှာဘီနင်သည် လက်ဝဲ တောင်ပံစစ်ကြောင်းဘက်မှ ကဆုန်စိုင်း၍ ရောက်လာကာ ပြင်သစ်တပ်များက မိမိတို့သစ်တပ်များနှင့် ဆင်မြီနော့ ရွာကို သိမ်းပိုက်လိုက်ပြီဖြစ်ကြောင်းဖြင့် သတင်းပို့ပြန် လေသည်။ စစ်မျက်နှာမှ ပစ်ခတ်သံများကို ထောက်ခြင်း အားဖြင့် လည်းကောင်း၊ ဗိုလ်ချုပ် ရှာဘီနင်၏မျက်နှာကို ကြည့်ခြင်းအားဖြင့် လည်းကောင်း မိမိတို့ အခြေအနေ မလှကြောင်းကို ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် ရိပ်စားမိကာ အညောင်းဆန့်သလိုလိုဖြင့် ထိုင်ရာမှ ထလိုက်ပြီးနောက် ဗိုလ်ချုပ် ရှာဘီနင်၏လက်မောင်းကိုဆွဲ၍ လူရှင်းရာသို့ ခေါ်လာခဲ့သည်။ ထို့နောက် ဗိုလ်ချုပ်အာမိုလော့ဗ်ကို ခေါ်၍

”ကဲ ဗိုလ်ချုပ်ရှေ့ အရေးတောင်းပြန်ပြီဗျ၊ အခြေ  အနေကို သွားကြည့်စမ်းပါဦး” ဟု ဆိုကာ ဗိုလ်ချုပ်အာမို လော့ဗ်ကို လွှတ်လိုက်ပြန်သည်။

စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်မှာ ဂေါ်ကီရွာတွင် စခန်းချလျက် ရှိ၏။ ထိုနေရာကား ရုရှား ခံစစ်ကြောင်း၏ဗဟိုချက်မနှင့် သိပ်မဝေးလှချေ။ နပို လီယန်သည် ရုရှားစစ်ကြောင်း လက်ဝဲတောင်ပံကို ကြိမ် ဖန်များစွာ ထိုးစစ်ဆင်ရာ ရုရှားတို့က ထိုးစစ်အားလုံးကို တွန်းလှန်လိုက်ကြ၏။ စစ်မျက်နှာ ဗဟိုချက်မ၌ကား ပြင် သစ်တို့ ဘိုရိုဒီနိုရွာထက် လွန်၍ မတက်နိုင်ကြချေ။ ရုရှား စစ်ကြောင်းလက်ယာတောင်ပံ၌ကား ဗိုလ်ချုပ် အူဗာရော့ဗ် ၏ မြင်းတပ်များက ပြင်သစ်လက်ယာတောင်ပံကို အတင်း ဝင်ရောက်ချိုးဖောက်ကြသဖြင့် ပြင်သစ်တို့ အကွဲကွဲထွက် ပြေးကြရလေသည်။

ညနေ သုံးချက်တီးအချိန်လောက်၌ ပြင်သစ်တို့ တိုက်စစ်များ ရပ်သွားကြ၏။ ရှေ့တန်းစစ်မျက်နှာမှ ပြန် ရောက်လာသူများနှင့် မိမိအပါးတွင် တာဝန်ထမ်းရွက် နေသူများအားလုံး၏ မျက်နှာများမှာ များစွာပင်ပန်းနွမ်း နယ်သော

အသွင် ဆောင်လျက်ရှိခြင်းကို ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် သတိပြုမိ၏။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်မှာ ထိုနေ့တိုက်ပွဲတွင် မိမိ မျှော်လင့်သည်ထက် အောင်မြင်သောကြောင့် များစွာနှစ်ထောင်းအားရ ဖြစ်လျက် ရှိသည်။ သို့ရာတွင် ဗိုလ်ချုပ်ကြီး ကူတူဝေ့ဗ်မှာ အသက်အရွယ် ကြီးရင့်လှပြီဖြစ်သဖြင့် ပင်ပန်းလှပေပြီ။ တစ်ချီတစ်ချီတွင် ၎င်း၏ ခေါင်းသည် ကိုယ်ပေါ်မှ ပြုတ်ဆင်းသွားတော့မည့် ဟန်ဖြင့် ငိုက်ကျသွားတတ်ကာ အိပ်ငိုက်လျက် ရှိလေ သည်။ ထို့နောက် ညစာရောက်လာလေသည်။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ် ညစာစားနေသည့်အချိန် တွင် တပ်ရေးချုပ် ဗိုလ်ချုပ် ဝေါ်ဇိုဂျင် ရောက်လာလေ သည်။ ဝေါ်ဇိုဂျင်မှာ မင်းသားကလေး အင်ဒရေ၏ တပ် စခန်းထဲမှ မြင်းဖြတ်စီးခဲ့စဉ်က “စစ်ကို တိုးချဲ့ရမည်” ဟု ပြောခဲ့သူဖြစ်ပြီး ဗိုလ်ချုပ်ကြီးဘာဂရေးရှင်း၏ ရန်ဘက် လည်း ဖြစ်လေသည်။ ဝေါ်ဇိုဂျင်သည် လက်ဝဲတောင်ပံ စစ်ကြောင်းမှ အခြေအနေအရပ်ရပ်ကို အစီရင်ခံရန်အတွက် ဗိုလ်ချုပ်ကြီး ဘာကလေဒီတိုလီက စေလွှတ်လိုက်သဖြင့် ရောက်လာခဲ့ခြင်း ဖြစ်လေသည်။ အကင်းပါးသော ဗိုလ် ချုပ်ကြီးဘာကလေဒီတိုလီသည် ကျည်သင့်၍ ထွက်ပြေးလာကြသောတပ်သားများ ဖရိုဖရဲဖြစ်နေသော နောက်ဖျားတပ်များကို မြင်သည်၌ အခြေအနေကို ချင့်ချိန် သုံးသပ်ကာ လက်ဝဲတောင်ပံ၌ မိမိတို့ အရေးနိမ့်လေပြီ ဟု ကောက်ချက်ထုတ်လိုက်ပြီးနောက် မိမိ၏လူယုံတော် ( တပ်ရေးချုပ် ဝေါ်ဇိုဂျင်ကို စစ်သေနာပတိချုပ်ထံ အစီရင်ခံ ချက် အပို့ခိုင်းလိုက်ခြင်းဖြစ်လေသည်။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ကြက်ကင်တစ်ပိုင်း ကို ပင်ပန်းခက်ခဲစွာဝါးလျက်ရှိရာက မျက်ခွံမို့မို့ကြီးများ အောက်မှ တဖျတ်ဖျတ်တောက်ပလျက်ရှိသော မျက်လုံး များဖြင့် တပ်ရေးချုပ် ဝေါ်ဇိုဂျင်ကို ကြည့်လိုက်၏။

ဝေါ်ဇိုဂျင်ကလည်း လက်ကို ဦးထုပ်တွင် မထိ တထိထား၍ အရိုအသေပြု ရင်း ခပ်မှောင်မှောင်အပြုံး ကို ပြုံးကာ ပမာမခန့်ဟန်ဖြင့် ခြေထောက်များကို ဆတ် ' ခနဲ ဆတ်ခနဲလှမ်း၍ လျှောက်လာသည်။

စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးကိုဆက်ဆံရာ၌ ဗိုလ်ချုပ်ဝေါ်ဇို ဂျင်၏အမူအရာမှာ မထီမဲ့မြင်ပြုသည့်အသွင် ကို ဆောင်လျက်ရှိ၏။ "သင်းတို့ ရုရှားများသည် အသုံးမကျ သောအဘိုးကြီးကို စစ်သေနာပတိချုပ်ထင်ထားကြ သည်။ ငါကဲ့သို့သော စစ်ရေးစစ်ရာကျွမ်းကျင်သည့် စစ်သားများ ကား အဘိုးကြီး အကြောင်းကို ကောင်းကောင်း သိပြီးဖြစ် သည်" ဟု ပြောနေသကဲ့သို့ ရှိလေသည်။ ဝေါ်ဇိုဂျင်သည် "သည်အဘိုးကြီး (ဝေါ်ဇိုဂျင်တို့ ဂျာမန်ဗိုလ်ချုပ်များ အသိုင်း အဝိုင်း တွင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်ကို "အဘိုးကြီး"ဟု ခေါ်ကြသည်။) စည်းစိမ်တွေ့နေ ပေသည်" တွေးကာ ဗိုလ် ချုပ်ကြီး ကူတူဇော့ဗ်ရှေ့ရှိ စားသောက်ဖွယ်များကို မနှစ် သက်ဟန်ဖြင့် လှမ်းကြည့်လိုက်ပြီး ဗိုလ်ချုပ်ကြီးဘာကလေ ၏အမိန့်အတိုင်း လက်ဝဲတောင်ပံစစ်ကြောင်းမှ ကိုယ်တွေ့ မျက်မြင်အခြေအနေများကို အစီရင်ခံ လျက် ရှိလေသည်။

"ကျွန်တော်တို့ ခံစစ်ကြောင်းတစ်လျှောက်ရှိ စခန်း များအားလုံး ရန်သူတို့ လက်သို့ ကျရောက်ပြီ။ ကျွန်တော် တို့မှာ လူအားလည်း နည်း၊ လက်နက် ခဲယမ်းမီးကျောက် လည်း ပါးသဖြင့် ရန်သူတို့၏ထိုးစစ်ကို တွန်းလှန်ရန် မလွယ်ပြီး တပ်တော်များသည်လည်း တားဆီး၍မရအောင် ( အကွဲကွဲ ထွက်ပြေးကြပြီ" , ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် တမြုံ့မြုံ့ဝါးခြင်း ကိုရပ်၍ ဝေါ်ဇိုဂျင်၏စကားများ ကို နားမလည်သကဲ့သို့ အံ့အားသင့်စွာ ငေးကြည့်လျက်ရှိ၏။ ဤတွင် ဝေါ်ဇိုဂျင်က လည်း "အဘိုးကြီး' ဆိုလိုသည့် အဓိပ္ပာယ်ကို ချက်ချင်း ရိပ်မိဟန်ဖြင့် ပြုံးလျက်

”တွေ့မြင်ခဲ့သမျှကို မချန်မခြင်း ကျွန်တော် အစီရင် ခံခြင်း ဖြစ်သည်။ ဖုံးဖုံးဖိဖိပြောခြင်းမျိုး ကျွန်တော် မပြုလို။ ယခု တပ်တော်များအားလုံး အကွဲကွဲ ဖြစ်ကြပြီ”

“ဘာ၊ ကိုရင် မြင်ခဲ့ရတယ် ဟုတ်စ”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် မျက်မှောင်ကုတ် ၍ အော်ပြောလိုက်ပြီးနောက် ဗိုလ်ချုပ် ဝေါဇိုဂျင်ထံသို့ ခပ်သုတ်သုတ် ထလာခဲ့ကာ ရိုက်မောင်းပုတ်မောင်းလုပ် တော့မည့်ဟန်ဖြင့် ရွယ်လိုက်လျက်

”ကိုရင် ဒီစကား ဒီမှာပဲ ရပ်ပါ၊ ဒီလိုစကားမျိုး ကျုပ်ကို မပြောပါနဲ့၊ ကိုရင် ဘာမှ နားမလည်ဘူး၊ သွား၊ “ဒီသတင်းဟာ မမှန်ဘူး၊ စစ်ပွဲရဲ့ တကယ့်အခြေအနေကို သူ့ထက် စစ်သေနာပတိချုပ်လုပ်တဲ့ ကျုပ်က ပိုသိတယ်” လို့ ကိုရင့်ဗိုလ်ချုပ်ဘာကလေကို သွားပြောချည်”

ဗိုလ်ချုပ် ဝေါဇိုဂျင်က ပြန်ပြောရန် ဟန်ပြင်လိုက် ၏။ သို့ရာတွင် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ဆက်၍

”လက်ဝဲတောင်ပံမှာ ရန်သူတွေကို မောင်းထုတ် လိုက်ပြီးပြီဗျ။ လက်ယာတောင်ပံမှာလဲ ရန်သူတွေ ဆုတ် သွားပြီ။ ဒါတွေကို ခင်ဗျား မမြင်ခဲ့လို့ရှိရင် ခင်ဗျားမသိ တဲ့အကြောင်းတွေကို မပြောပါနဲ့။ မနက်ဖြန်မှာ ရန်သူကို ထိုးစစ်ဆင်ဖို့ ကျုပ်ဆုံးဖြတ်ချက် ချပြီးပြီဆိုတာကိုသာ ဗိုလ်ချုပ်ဘာကလေဆီ သွားပြောပါ”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က ခပ်ထန်ထန် ပြော လိုက်၏။

အားလုံးတိတ်ဆိတ်နေကြသည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ပြင်းစွာ အသက်ရှူသံကိုသာ ကြားရ၏။

“စစ်မျက်နှာအားလုံးမှာ ရန်သူတွေကို မောင်း ထုတ် လိုက်ပြီးပြီဗျ။ ဒီလို ရန်သူတွေကို မောင်းထုတ်လိုက် တဲ့အတွက် ဘုရားသခင်နဲ့ တကွ သူရသတ္တိ ပြောင်မြောက် တဲ့ ကျုပ်တို့ တပ်မတော်ကြီးကို ကျုပ် ကျေးဇူးတင်တယ်။ မနက်ဖြန်မှာ ကျုပ်တို့ အမိနိုင်ငံရဲ့ မြေကြီးပေါ်က ရန်သူ ကို အပြီးအပိုင် မောင်း ထုတ်ရမယ်။ ရန်သူတွေ အရေးနိမ့် နေပြီ”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် လက်ယှက် ဆု  တောင်းလိုက်ကာ မျက်လုံး တွင် မျက်ရည်များဝဲကျလာ ရာမှ ငိုရှိုက်လျက် ရှိလေသည်။ . ဗိုလ်ချုပ် ဝေါ်ဇိုဂျင်သည် ပခုံးတွန့်၍ နှုတ်ခမ်းကို မဲ့ကာ ဘေးသို့ ဖယ်လိုက်သည်။ ၎င်း၏စိတ်ထဲ၌လည်း “အဘိုးကြီး” အခြောက်တိုက် ဘဝင်မြင့်လျက်ရှိခြင်းကို အံ့ဩလျက်ရှိ၏။

“ဟော လာပြီ လာပြီ၊ ဒါမှ ငါ့သူရဲကောင်းကွယ့်” ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က တောင်ပူစာပေါ်မှ မြင်းစီး၍ ဆင်းလာသော ဆံပင်နက်နက်၊ ဥပဓိရုပ်ကောင်းကောင်း ဗိုလ်ချုပ်တစ်ဦးကို လှမ်း၍ ပြောလိုက်သည်။

ထိုသူကား ဗိုလ်ချုပ်ရေဲ့စကီဖြစ်လေသည်။ ဗိုလ် ချုပ်ရေစကီမှာ ဘိုရိုဒီနိုစစ်တလင်း၌ အချက်အချာအကျ ဆုံးသော စစ်မျက်နှာအကန့်တွင် တစ်နေ့လုံး ရန်သူများ ကို တိုက်ခိုက်ခဲ့သူ ဖြစ်၏။

ဗိုလ်ချုပ်တွေ့စကီက မိမိတို့တပ်များသည် ခြေကုပ် စခန်းများကို အသေအလဲ ခုခံသိမ်းပိုက်ထားကြကြောင်း၊ ရန်သူတို့ အထိအရှများသည်ဖြစ်၍ နောက်ထပ် ထိုးစစ် များ မဆင်ဝံ့တော့ကြောင်းဖြင့် အစီရင်ခံလေသည်။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ဗိုလ်ချုပ် ရေစကီ ၏အစီရင်ခံချက်ကို ကြားနာပြီးနောက် ပြင်သစ်ဘာသာဖြင့်

”ဘယ့်နှယ်လဲ ဗိုလ်မင်း၊ ဗိုလ်မင်းကကော တခြား ဗိုလ်ချုပ်များလို ဆုတ်ရမယ် ဆိုတဲ့ဘက်ကလား”

“ကျွန်တော် ဤသို့ မယူဆပြီ ဗိုလ်ချုပ်၊ ဘတစ် ပြန် ကျားတစ်ပြန် အကြိတ်အနယ်တိုက်ရသောတိုက်ပွဲ တို့၌ ဖွဲ့ရှိသူ၊ ရေရှည်ဆွဲ၍ တိုက်နိုင်သူများသာ နောက်ဆုံး ၌ အောင်ပွဲခံရမြဲ ဓမ္မတာဖြစ်ပါသည်။ ဗိုလ်ချုပ်သည် ကျွန်တော့် အထင်၌”

“တပ်ရေး ကေဆာရော့ဗ်” ဗိုလ်ချုပ်ကြီး ကူတူ ဇော့ဗ်က တပ်ရေးကို ခေါ်လိုက်သည်။ “လာစမ်း၊ မနက် . ဖြန်အတွက် အမိန့်ပြန်တမ်းတစ်စောင် ရေးစမ်း၊ ပြီးတော့ မောင်မင်းက”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်က အခြားတပ်ရေးတစ် ယောက်ဘက်သို့ လှည့်ပြောလိုက်သည်။

“တပ်စခန်းတွေကို မြင်းနဲ့ လှည့်၊ သူရဲ သူခက် ရဲမက်လက်နက်ကိုင်သေနတ်၊ ဆေး ခဲယမ်းမီးကျောက် များနှင့်တကွ တပ်ဦးတပ်ဖျားထား၊ ကင်းတိုကင်းရှည်  ကင်းမ အစောင့်အနေ မလစ်လပ်စေရ။ ခေးလုံ ကိုယ်ပါး အနီးထား။ နိုးကြားကြစေကြောင်း ဆော်ဩချေ။ နက်ဖြန် တွင် ရန်သူကို ထိုးစစ်ကြီး ဆင်မည်”

ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် ဗိုလ်ချုပ် ရေစကီ နှင့် စကားပြောရင်း အမိန့်ပြန်တမ်းကို နှုတ်တိုက်ရွတ်ပြ ၍ ရေးမှတ်စေ၏။ ထိုစဉ် စောစောကထွက်သွားသော ဗိုလ်ချုပ်ဝေါဇိုဂျင်သည် ဗိုလ်ချုပ်ဘာကလေထံမှ ပြန်ရောက် လာကာ စစ်သေနာပတိချုပ်အမိန့်မှာ နှုတ်မိန့်မျှသာဖြစ် သည့်အတွက် ထိုအမိန့်ကို စာရွက်ပေါ်တွင်ရေးပေးပါရန် ဗိုလ်ချုပ်ဘာကလေက မှာကြားလိုက်ကြောင်းဖြင့် ပြောဆိုလေသည်။

ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်သည် ဗိုလ်ချုပ်ဝေါဇိုဂျင် ကို မကြည့်တော့ဘဲ အမိန့် ကို စာဖြင့်ရေးပေးလိုက်ရန် တပ်ရေးတစ်ဦးအား ညွှန်ကြားလျက် ရှိသည်။ စစ်သေနာ ပတိချုပ်ဟောင်း ဗိုလ်ချုပ်ကြီးဘာကလေသည် တစ်စုံ တစ်ခု ဖြစ်လာက မိမိတွင် တာဝန်မရှိစေရန်အတွက် အမိန့် ကို စာဖြင့်ရေးပေးရန် တောင်းဆိုခြင်း ဖြစ်လေသည်။

စစ်တပ်ကြီး တစ်တပ်ကို တစ်စိတ်တည်း တစ် ဝမ်းတည်း တစ်ချက်တည်း ဖြစ်အောင် ချည်နှောင်ထား သည့် ထူးဆန်းသောနှောင်ကြိုးကြီးတစ်ခု ရှိ၏။ ဤနှောင် ကြိုးကြီးကို "စစ်တပ်၏ စိတ်ဓာတ်" ဟု ခေါ်ဆိုကြလေ သည်။ ၎င်းသည် စစ်ပွဲတစ်ပွဲ၏အဓိကအသက်သွေးကြော ကြီးပင် ဖြစ်လေသည်။ ဤသို့ဖြင့် "နက်ဖြန်တွင် ထိုးစစ် ဆင်အံ့" ဟူသော စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏အမိန့် သည် ထိုသွေးကြောမကြီးမှတစ်ဆင့် စီးဆင်း၍ တပ်မတော် ကြီး၏သွေးကြော အခက်အလက် အစိတ်အမြွာတို့သို့တိုင် ရောက်လာသတည်း။

စစ်သေနာပတိချုပ်၏ အမိန့်၊ စစ်သေနာပတိချုပ် ၏စကားသည် ဤသို့ သွေးကြောမကြီးမှတစ်ဆင့် အဝေး ဆုံးသော သွေးကြောအစိတ်အမြွာများသို့ ရောက်သည့်အခါ ထိုအမိန့် ထိုစကားအတိုင်း မဟုတ်တော့ပြီ။ ပါးစပ်တစ်ခု မှ ပါးစပ်တစ်ခုသို့ ကူးပြောင်းသွားပြီးသည့်နောက်၌ အမိန့် ချင်း၊ စကားချင်း၊ အသံချင်း ကွဲပြားခဲ့လေပြီ။ သို့ရာတွင် အနက်အဓိပ္ပာယ်ကား ကွဲပြားခြင်း မရှိချေ။ အဘယ်ကြောင့် ဆိုသော် စစ်သေနာပတိချုပ်၏ စကားများသည် စစ်ဆင် စစ်တက်၊ စစ်ဖျက် စစ်ထိုး စသည့်ကိစ္စများ၌ ကျွမ်းကျင် လိမ္မာစွာတွက်ချက်ရာမှ ပေါ်ထွက်လာခြင်းမဟုတ်မူ ၎င်း၏ နှလုံးသားထဲရှိ ခံစားချက်များမှ ထွက်ပေါ်လာခြင်းကြောင့် ဖြစ်ကာ ထိုခံစားချက်သည်လည်း ရုရှားလူမျိုးတိုင်း၏ ခံစားချက်နှင့် ထပ်တူထပ်မျှ ဖြစ်လျက် ရှိသောကြောင့် ပေတည်း။

နက်ဖြန်တွင် ရန်သူကို ထိုးစစ်ဆင်ရတော့မည်ဟု ကြားရပြီးနောက် ထို သတင်းကို သက်ဆိုင်ရာက အတည် ပြုလိုက်သည့်အခါ၌ မောပန်းနွမ်းနယ်လျက် ရှိသော တပ် သားများသည် ရေငတ်စဉ် ရေတွင်းထဲ ကျဘိသို့ အားတက် ရွှင်လန်း လျက် ရှိကြလေသတည်း။

# အခန်း ၃၆

မင်းသားကလေးအင်ဒရေ၏တပ်မှာ တပ်ကူများကြားထဲ တွင် ရောက်နေ လေသည်။ အရန်တပ်ကူများသည် ဆင်မြီ နေ့ဗ္ဗာ၏နောက်ဖေးတွင် စခန်းချ လျက်ရှိ၍ မွန်းတိမ်း တစ်ချက်တီးသည်အထိ တိုက်ပွဲတွင် ပါဝင်ခြင်းမပြုရ သေးဘဲ ပြင်းထန်စွာပစ်ခတ်လျက်ရှိသော ရန်သူအမြောက် များ၏ဒဏ်ကို ခံနေရလေ သည်။ နှစ်ချက်တီးအချိန်လောက် တွင်ကား ရန်သူ့အမြောက်များ၏ ပစ်ခတ်မှု ကြောင့် တပ် သားနှစ်ရာကျော်မျှ အကျအဆုံးရှိနေပြီဖြစ်သော မင်းသား ကလေး အင်ဒရေ၏တပ်သည် “မြတပူကုန်း” နှင့် ဆင်မြီ နေ့ဗ္ဗာကြားရှိ ကြေမွပျက်စီး လျက်ရှိသော ပြောင်းခင်းထဲ သို့ ပြောင်းရွှေ့တပ်စွဲထားလေသည်။ ထိုနေရာကား ထိုနေ့ တိုက်ပွဲတွင် တပ်သားထောင်ပေါင်းများစွာ ကျဆုံးသော နေရာဖြစ်ပြီး မွန်းလွဲတစ်ချက်တီးနှင့် နှစ်ချက်အကြားတွင် ရာပေါင်းများစွာသော ရန်သူ အမြောက်ကြီးများ၏ တရ ကြမ်းပစ်ခတ်ခြင်းကို ခံရသည့်နေရာလည်း ဖြစ်၏။

မင်းသားကလေး အင်ဒရေ၏ တပ်ရင်းသည် ထို နေရာမှ ရွှေ့ရှားခြင်းလည်း မရှိ။ သေနတ်တစ်ချက်မျှ ပစ်ဖောက်ခြင်းလည်းမရှိဘဲ နေရင်း ထိုင်ရင်း တပ်သား သုံးပုံတစ်ပုံခန့် နောက်ထပ် ကျဆုံးခဲ့ရပြန်သည်။ တပ်ရင်း စခန်းချလျက်ရှိသည့် လယ်ကွင်းတစ်ဝိုက်တွင် မည်းမှောင် သောမီးခိုးလုံးကြီးများသည် ပိန်းပိတ်အောင် ဖုံးအုပ်လျက် ရှိကာ ထိုမီးခိုးလုံးကြီးများကြားမှ အမြောက်မြတပူ ပစ် ခတ်သံများ

ကလည်း တစ်ရံမလပ် မြည်ဟည်းပေါ်ထွက်  လျက်ရှိ၏။ ရှေ့တူရူနှင့် လက်ယာဘက် ရန်သူစစ်ကြောင်း များဘက်မှ ပစ်ခတ်လိုက်သောအမြောက်ဆန် များသည် တဝီဝီအော်မြည်၍ ကျဆင်းလာကာ သေနတ်ကျည်ဆန် များလည်း တရှီရှီ မြည်၍ ကျရောက်လျက်ရှိ၏။ တစ်ခါ တစ်ရံ၌ကား လယ်ကွင်းထဲတွင် မရှုမလှ ခံနေရသည့် မင်းသားကလေးအင်ဒရေ၏ တပ်ရင်းကို အနားပေးလိုက် သကဲ့သို့ ကျည်ဆန်များသည် တပ်သားများကြားထဲသို့ ကျမလာကြတော့ဘဲ ခေါင်းပေါ်မှ ပျံသန်းကာ နောက် ဘက်သို့ ကျသွား၏။ သို့ရာတွင် နာရီတစ်ပတ်ခန့် ကြာ သည်နှင့် ကျည်ဆန်များ၊ အမြောက်ဆန်များသည် တပ်သား များကြားထဲသို့ ကျ လာကြပြန်ကာ တစ်မိနစ်အတွင်း တပ်သားပေါင်းများစွာတို့မှာလည်း အတုံးအရုံး လဲကျ သေဆုံးကြပြန်သည်။ ကျဆုံးသူများကို အပြင်သို့ ဆွဲထုတ် သွားပြီး ဒဏ်ရာ ရသူများကိုလည်း စခန်းများသို့ ကောက်ယူ သွားကြ၏။

ရန်သူ၏ အမြောက်သံတစ်ချက် တစ်ချက်ထွက် ပေါ်လာတိုင်း ကျဆုံးခြင်း မရှိသေးသူတို့အဖို့ ဆက်လက် အသက်ရှင်နေနိုင်သော အခွင့်အလမ်းမှာလည်း နည်းသည် ထက်နည်းလာခဲ့လေသည်။ မင်းသားကလေးအင်ဒရေ၏ တပ်ရင်းမှာ တပ်ခွဲလိုက်စုထားပြီး တပ်ခွဲတစ်ခုနှင့် တစ်ခုကို အလှမ်းသုံးရာစီမျှ ခွာ၍ နေရာ ယူထား၏။ သို့ရာတွင် တပ်သားများအားလုံး၏ စိတ်ဓာတ်ကား ကောင်းမွန်လျက် ရှိပေသည်။ တပ်သားများသည် တိတ်ဆိတ်လျက် ရှိကြ၏။ အမြောက်ဆန်ကြီး တစ်ခု အုန်းခနဲ မြည်ကာ ကျရောက် ပေါက်ကွဲသွားတိုင်း “ထမ်းစင်၊ ထမ်းစင်” ဟု အော်သံများ ပေါ်ထွက်လာကြသည်။ ဆိုင်ရာတပ်မိုလ်များ ၏အမိန့်အရ တပ်သား များအားလုံးသည် မြေကြီးပေါ်တွင် ထိုင်လျက် ရှိ၏။ တချို့က ခေါင်းမှ သံပရာခွံဦးထုပ်ကို ချွတ်၍ ဦးထုပ်အနားပတ်မှ ကြိုးစကလေးကို ဆွဲချည် ဆန့်ချည် ပြုနေကြ၏။ အချို့က ရွှံ့ခဲကို လက်ဖြင့်ချေကာ လှံစွပ်ကို ချွတ်တိုက်နေကြ၏။ အချို့က ခါးပတ်ကို ဖြတ်ကာ ကွင်း လျှောလုပ်နေကြ၏။ အချို့က ခြေပတ်များကို

ဖြုတ်၍ ပြန့်အောင်ဖြေကာ ပြန်စည်းနေကြ၏။ အချို့က ထွန်ရေး များထနေသည့် ယာခင်းထဲတွင် မြက်ပင်ကလေးများဖြင့် အိမ်ဆောက်နေကြ၏။ အချို့က ကောက်ရိုးမျှင်များဖြင့် တောင်းကလေးများ ရက်နေကြ၏။ ဤသို့ဖြင့် တပ်သား အားလုံးသည် အသီးသီး ကိုယ့်ကိစ္စတွင်ကိုယ် စိတ်ဝင်စား လျက် ရှိကြလေသည်။ အခြားတပ်သားများ ဒဏ်ရာရသည့် အခါ သို့မဟုတ် ကျဆုံးသွားသည့်အခါ၌ လည်းကောင်း၊ ထမ်းစင်များအနားမှဖြတ်၍ သယ်သွားသည့်အခါ၌ လည်း ကောင်း၊ အချို့တပ်များ ဆုတ်ခွာနေကြသောအခါ၌ လည်း ကောင်း၊ ကြီးမားသော မီးခိုးလုံး ကြီးများကြားထဲမှ ရန်သူ တပ်သားများကို မြင်လိုက်ရသည့်အခါ၌ လည်းကောင်း ၎င်းတို့သည် ထိုအရာများကို တစ်ယောက်မျှ ဂရုမပြုကြ ချေ။ သို့ရာတွင် ရှုရှား ခြေလျင်တပ်များ သို့မဟုတ် မြင်းတပ် များ၊ သို့မဟုတ် အမြောက်တပ်များက ရှေ့ သို့ချီတက်တိုက် ခိုက်သည်ကို မြင်ရသည့်အခါများတွင်ကား ထိုတပ်သား - များထဲ မှ အားပေးသံများ ပေါ်ထွက်လာလေသည်။ သို့ရာ တွင် တိုက်ပွဲနှင့် မသက်ဆိုင် သောကိစ္စများ၊ တိုက်ပွဲနှင့် မပတ်သက်သော အခြင်းအရာများကိုကား တပ်သား များ စိတ်အဝင်စားဆုံး ဖြစ်လေသည်။ စိတ်ပင်ပန်း နွမ်းနယ် လျက်ရှိသော တပ်သားများသည် နေ့စဉ် ကြုံတွေ့နေကျ အဖြစ်အပျက်များ၊ သာမန်အခြင်းအရာ များကို ကြည့်၍ စိတ်၏ပင်ပန်းနွမ်းနယ်ခြင်းကို ဖြေဖျောက်သကဲ့သို့ ရှိပေ ၏။ အမြောက်တပ်စုတစ်စုသည် တပ်ရင်းရှေ့မှ ဖြတ်၍ ချီတက်သွား၏။ ထိုတပ်စုထဲမှ ခဲယမ်းမီးကျောက် တင် လှည်းတစ်စီးကိုဆွဲသည့် မြင်းတစ်ကောင်သည် ကကြိုး တွင် ခြေထောက်ငြိလျက် ရှိ၏။ "ဟေ့ မြင်းခြေထောက် ကကြိုးထဲ ရောက်နေ တယ်ကွ၊ ဆွဲထုတ်ပါဦး။ ခြေကျိုး သွားလိမ့်မယ်။ ဟေ့လူတွေ မမြင်ဘူးလား" ဟု တပ်သား များက ဝိုင်းအော်ကြသည်။ တစ်ခါတွင်လည်း မည်သည့် နေရာ၊ မည် သည့်အချိန်က ရောက်လာမှန်းမသိသော အညို ရောင် ခွေးကလေးတစ်ကောင် သည် အမြီးထောင်လျက် တပ်ရင်းရှေ့မှ ခြေသုံးချောင်းထောက်၍ ပြေးလာ၏။ ထို အခိုက် အမြောက်ဆန်တစ်ခုသည် အနီးကျရောက် ပေါက်ကွဲသွားရာ ခွေးသည်တ

ဝုတ်ဝုတ်ဟောင်ကာ အမြီး ကုတ်၍ ထွက်ပြေးသည်၌ တပ်သားများမှ တဝါးဝါး ရယ်မော ကျန်ရစ်ခဲ့ကြလေသည်။ ဤသို့ဖြင့် တပ်သားများ သည် စစ်ပွဲနှင့် ပတ်သက်ခြင်းမရှိသော သာမန်ကိစ္စကလေး များကို စိတ်ဝင်စားလျက် ရှိကြလေ သည်။ သို့ရာတွင် ဤသို့သော အာရုံအပြောင်းအလဲများမှာ များစွာမကြာလှ ချေ။ အစာရေစာ စားသောက်ရခြင်းလည်း မရှိ၊ လှုပ်ရှား ခြင်းလည်း မရှိဘဲ သေမင်းကို မျက်မှောက်ပြုနေခဲ့ရသည် မှာ ရှစ်နာရီမျှကြာခဲ့ပြီဖြစ်၍ ၎င်းတို့၏မျက်နှာမှာ နွမ်းနယ် ဖျော့တော့ကာ သုန်မှုန်လျက် ရှိကြလေပြီ။

မင်းသားကလေးအင်ဒရေမှာလည်း ၎င်း၏တပ် သားများနည်းတူ ဖျော့တော့ ညှိုးနွမ်းကာ သုန်မှုန်လျက် ရှိ၏။ မင်းသားကလေး အင်ဒရေသည် ဂျုံခင်းတစ်ခင်း ဘေး မှ ပေါင်းမြက်တောအစပ်ရှိ တပ်စုတစ်စုနှင့် တစ်စုအကြား တွင် လက်နှစ် ဖက်နောက်ပစ်၍ ခေါင်းငိုက်စိုက်ဖြင့် လမ်း လျှောက်လျက် ရှိသည်။ မင်းသား ကလေး အင်ဒရေအဖို့ ဘာမျှ လုပ်စရာ မရှိချေ။ မည်သည့်အမိန့်မျှလည်း ပေးစရာ မရှိချေ။ အရာအားလုံးသည် သူ့အလိုအလျောက် ဖြစ် လျက် ရှိကြ၏။ ကျဆုံးသော တပ်သားများကို စစ်တလင်း ထဲမှ ဆွဲထုတ်သူက ဆွဲထုတ်သွားကြ၏။ ဒဏ်ရာရ သူများ ကို ကောက်သူက ကောက်သွားကြ၏။ တပ်သားများသည် သူ့အစုနှင့်သူ စု နေကြ၏။ အကယ်၍ စစ်မျက်နှာနောက် ဖျားသို့ ထွက်ပြေးသော တပ်သားများရှိခဲ့ လျှင်လည်း ထို တပ်သားများသည် မကြာမီပင် နဂိုနေရာသို့ ပြန်ရောက် လာကြ လေသည်။ မင်းသားကလေးအင်ဒရေသည် မိမိ၏ တပ်သားများအား ရဲဆေးတင် ပေးကာ မိမိက စံနမူနာ ပြမှ သင့်မည်ဟု စဉ်းစားမိသည့်အတွက် တပ်စုများထဲသို့ ဝင်လာခဲ့၏။ သို့ရာတွင် မိမိတပ်သားများအား ရဲဆေး တင်ပေးရန် မလို။ ၎င်းတို့ အား မိမိက ဘာမျှပြောင်းလဲ အောင် မလုပ်နိုင်ဟူ၍ ချက်ချင်းသဘောပေါက် သွား၏။ မိမိ၏စိတ်တန်ခိုးသတ္တိဟူသရွေ့တို့သည် ဤစစ်မြေပြင်ရှိ တပ်သား တိုင်း၏စိတ်တန်ခိုးသတ္တိကဲ့သို့ ကြောက်မက်ဖွယ် ကောင်းသောအခြေအနေကို

စဉ်းစားတွေးတောခြင်းပြုလို ဟန် မရှိဘဲ မသိမသာ ငြင်းဆန်လျက်ရှိသည်။ မင်းသား ကလေးအင်ဒရေသည် ခြေကို ဒရွတ်ဆွဲကာ မြက်ပင်များကို ပွတ်တိုက်၍ ပေါင်းမြက်တောထဲတွင် လျှောက်လျက်ရှိရာ မှ ဖိနပ်တွင် တင်လျက်ရှိသော ဖုန်မှုန့်များကို ကြည့်နေမိ သည်။ တစ်ခါတစ်ခါ၌လည်း ခြေလှမ်းကျဲကျဲ လှမ်း၍ မြက်ရိတ်သမားများ၏ ခြေရာအတိုင်း လိုက်၍လျှောက် ၏။ တစ်ချီ တစ်ချီ၌လည်း မိမိ၏ခြေလှမ်းများကို ရေတွက် လျက် ခရီးတစ်မိုင်ပေါက်ဖို့ စားကျက်၏ ဤဘက် ကန် သင်းရိုးနှင့် ထိုဘက်ကန်သင်းရိုးသို့ ခေါက်ရေ မည်မျှ လျှောက်ရမည်နည်းဟု တွက်လျက်ရှိ၏။ တစ်ခါတစ်ရံ၌ လည်း လှည်းလမ်းဘေးကန်သင်းရိုးတွင် ပေါက် လျက်ရှိ သည့်ဒေါနပင်မှ ဒေါနပန်းများကို ခူးယူလိုက်ပြီး လက် ဖဝါးထဲတွင် ပွတ်ချေကာ နမ်းလျက်ရှိသည်။ ယခုအချိန်၌ မင်းသားကလေး အင်ဒရေ၏ခေါင်းထဲ တွင် ယမန်နေ့က အတွေးများ မရှိတော့ချေ။ မည်သည့်အရာကိုမျှလည်း မတွေး တော့ချေ။ မင်းသားကလေးအင်ဒရေသည် တအုန်းအုန်း မြည်လျက်ရှိသော ပစ်ခတ်သံများကို စူးစိုက်နားထောင် ကာ ဤကား အမြောက်မြတပူပစ်သံ၊ ဤ ကား အမြောက် ဆန်များ ပျံသန်းလာသံ စသဖြင့် ခွဲခြားလျက် ရှိသည်။ တစ်ကြိမ် တစ်ကြိမ်၌လည်း နွမ်းနယ်ပင်ပန်းလျက်ရှိသော တပ်သားများ၏မျက်နှာများကို ကြည့်မိသည်။ မီးခိုးလုံး များထဲမှ တရွှီရွှီအော်မြည်ပျံသန်းလာသော အသံများကို နားထောင်ရင်း “အင်း လာပြန်ပြီ၊ ဘယ်သူ့ခေါင်းပေါ် ကျဦးမလဲ” ဟု တွေးမိသည်။ မင်းသားကလေး အင်ဒရေ သည် တပ်သားများဘက်သို့ လှမ်း၍ ကြည့်လိုက်၏။ အမြောက်ကျည်ဆန်တစ်ခုသည် တပ်သားများပေါ်မှ ကျော် ၍ကျသွားပြီး အခြား တစ်ခုမှာ တပ်သားများကြားထဲသို့ ကျသွား၏။ မင်းသားကလေး အင်ဒရေသည် စားကျက် ကန်သင်းရိုးကို ဆယ့်ခြောက်လှမ်းဖြင့် အရောက်လှမ်းလာ ခဲ့ပြန်သည်။ အမြောက်ကျည်တစ်လုံးသည် ရွှီခနဲ အော်မြည် ကာ ဘုတ်ခနဲကျလာ၏။ ထို အမြောက်ကျည်ဆန်သည် မင်းသားကလေးအင်ဒရေနှင့် ငါးလှမ်းအကွာတွင် ကျ

လာ လျက် အုန်းခနဲ ပေါက်ကွဲသွားလေရာ ခြောက်သရောင်း လျက်ရှိသော မြေစိုင် မြေခဲများသည် လွင့်စဉ်ဖာထွက်ကုန် ကြ၏။ မင်းသားကလေး အင်ဒရေသည် ကြက်သီးတွေ ဖြန်းခနဲ ထလာ၏။ ထို့နောက် တပ်သားများဘက်သို့ လှမ်းကြည့် လိုက်ပြန်သည်။ ဒုတိယတပ်ခွဲအနီးတွင် တပ် သားများ ဝိုင်းအုံနေခြင်းကိုထောက် သော် တပ်သားများစွာ ဒဏ်ရာရဟန် တူသည်။

““တပ်ရေးကြီး ဒီအနားမှာ စုပြုမနေပါစေနဲ့။ လူစု ခွဲပစ်လိုက်” မင်းသား ကလေး အင်ဒရေက လှမ်းအော် လိုက်၏။

တပ်ရေးသည် မင်းသားကလေး အင်ဒရေ၏အမိန့် အတိုင်း ဆောင်ရွက်ပြီး နောက် ပြန်ရောက်လာ၏။ တပ် စခန်းတစ်ဖက်စွန်မှ တပ်ခွဲမှူးတစ်ယောက်သည် မင်းသား ကလေး အင်ဒရေထံသို့ မြင်းစီးလာ၏။

”ဟော့လူတွေ သတိထားကြဗျို့၊ လာပြန်ပြီ” တပ်သားများ၏ စိုးရိမ်တကြီး အော်သံများ ပေါ်ထွက်လာ သည်။ လျင်မြန်စွာ ပျံသန်းကာ မြေကြီးပေါ်သို့ ဝဲဆင်း လာသော ငှက်ကြီးတစ်ကောင်ကဲ့သို့ အမြောက်ကျည်တစ် လုံးသည် မင်းသား ကလေး အင်ဒရေနှင့် ခြေနှစ်လှမ်းကွာ တပ်ခွဲမှူး၏ မြင်းအနီးတွင် ကျလာ၏။ တပ်ခွဲမှူး၏မြင်း ကြီးသည် အစပထမသော် တရှူးရှူးဖြင့် မြေကြီးကိုငုံ့နမ်း နေပြီး နောက် ပတတ်ရပ်လိုက်ကာ ပြန်လှည့်၍ ပြေးသည် တွင် မြင်းပေါ်မှ ဗိုလ်မှူးမှာ လိမ့်မကျအောင် မြင်းလည် ကိုဆွဲ၍ ပါသွားလေသည်။ မြင်းလန့်သည်တွင် တပ်သား များမှာလည်း ရုတ်ရုတ်သဲသဲ ဖြစ်ကုန်ကြသည်။

“ဝပ်နေ၊ ဝပ်နေ” တပ်ရေးက လှမ်းအော်လိုက် ပြီး မြေကြီးပေါ်သို့ လှဲချလိုက် သည်။

မင်းသားကလေးအင်ဒရေသည် ငိုင်နေ၏။ မီးခိုး တလူလူ ထွက်နေသော အမြောက်ကျည်လုံးကြီးသည် ပြောင်းခင်းနှင့် စားကျက်ကြားရှိ ဒေါနပင်တစ်ပင် အနီး အားလျားမှောက်လျက်ရှိသော တပ်ရေးဗိုလ်နှင့် မိမိအကြား တွင် ဂျင်ကြီး တစ်လုံးကဲ့သို့ လည်ပတ်လျက် ရှိသည်။

မင်းသားကလေး အင်ဒရေသည် မြက်ပင်များကို လည်းကောင်း၊ ဒေါနပင်ကို လည်းကောင်း၊ တဝီဝီလည် လျက်ရှိသော အမြောက်ကျည်လုံးကြီးမှ ထွက်နေ သည့် မီးခိုးများကို လည်းကောင်း စူးစိုက်ကြည့်နေမိသည်။

“ဒီအမြောက်ကျည်ကြီးဟာ သေမင်းပဲ။ ငါ အသေ မခံဘူး။ ငါ မသေချင် သေးဘူး။ လောကကြီးကို ငါ စွန့် ခွာမသွားနိုင်သေးဘူး။ လူ့ဘဝကြီးကို ငါမြတ်နိုး တယ်။

ဟောဒီ မြေကြီး၊ ဟောဒီလေ၊ ဟောဒီ မြက်ပင်တွေကို ငါချစ်တယ်။ ငါ မြတ်နိုးတယ်” ။

မင်းသားကလေးအင်ဒရေသည် ဤသို့တွေးရင်း မိမိအား တပ်သားများက လှမ်းကြည့်နေသည်ကို သတိ • ရလာသည်။

“တပ်ရေးကြီး ဒီလောက်လဲ မကြောက်ပါနဲ့ဗျ။

ယောကျ်ား”

မင်းသားကလေးအင်ဒရေသည် တပ်ရေးကို လှမ်း ပြောလိုက်၏။ သို့ရာတွင် မင်းသားကလေးအင်ဒရေသည် စကားကို အဆုံးသတ်အောင်မပြောနိုင်တော့ချေ။ ထိုသို့ ပြောလိုက်စဉ်၌ ပေါက်ကွဲသံကြီးတစ်ခု ထွက်ပေါ်လာ၍ တရှီရှီမြည်သံများ နှင့် အတူ အမြောက်ဆန်များသည် ပြ တင်းပေါက်ပေါင်မှ အကျိုးအပဲ့များကဲ့သို့ ပျံ ဝဲကျလာကြ လျက် ယမ်းခိုးများ ဖုံးသွားလေသည်။ မင်းသားကလေး အင်ဒရေမှာ

လည်း လက်တစ်ဖက်ကို မြှောက်ရင်း မှောက် လျက် လဲကျသွားလေသည်။ တပ်ဗိုလ်များသည် မင်းသား ကလေးအင်ဒရေထံ ပြေးလာကြ၏။ မင်းသားကလေးအင်ဒရေ၏ဝမ်းဗိုက်လက်ဝဲဘက်မှ သွေးတို့သည် တရဟော စီးထွက်လျက်ရှိလေရာ မြက်ခင်းပေါ်တွင် သွေးကွက်ကြီး ထင်လျက် ရှိလေသည်။

အရေးပေါ် စစ်သည်စုတပ်ဖွဲ့ဝင်များသည် တပ်ဗိုလ် များ၏အမိန့်အတိုင်း ထမ်းစင်များဖြင့် ရောက်လာကြ၏။ မင်းသားကလေးအင်ဒရေကား မြက်ခင်းပေါ်တွင် မျက်နှာ အပ်၍ လဲလျက်ရှိရာက အသက်ကို ပြင်းစွာရှူရှိုက်လျက် ရှိပေသည်။

“ဟေ့ ဘာငိုင်ကြည့်နေကြတာလဲ၊ လာ၊ ကောက် လှည့်ကြ”

အရေးပေါ်စစ်သည်စုဝင်များက မင်းသားကလေး အင်ဒရေကို ရှေ့နောက်ထမ်းလိုက်ကြ၏။ သို့ရာတွင် မင်းသားကလေး အင်ဒရေသည် သနားစဖွယ် ညည်းညူ လျက်ရှိသောကြောင့် ပြန်၍ ချထားလိုက်ကြပြန်သည်။

“ကောက်သွားကြလေ။ ဘာလို့ ပြန်ချထားရပြန် တာလဲ" တစ်ယောက်က ပြောလိုက်သည်။

သို့ဖြင့် မင်းသားကလေးအင်ဒရေကိုပွေ့ကာ ထမ်း စင်ပေါ်သို့ တင်လိုက်ကြ၏။

“ဟာ ဗိုက်မှာ ဒဏ်ရာကြီးက အကြီးကြီးပါလား၊ ကျွတ် ကျွတ်၊ သနားပါတယ်ဗျာ၊ ကြည့်ရတာတော့ သေ လိမ့်မယ်ထင်တယ်” တပ်ဗိုလ်တစ်ယောက်က ပြောလိုက် ပြန်သည်။

“ကျွန်တော့်အနား ဖြတ်သွားလိုက်တာများ ဗွီခနဲ နေတာပဲ” တပ်ရေးက ပြောလိုက်သည်။

အရေးပေါ် စစ်သည်စု တပ်ဖွဲ့ဝင်များသည် ထမ်း စင်ကို ပခုံးထက်တွင် နေသားတကျဖြစ်အောင် ပြင်ကာ စခန်းဆေးရုံသို့ ခပ်သုတ်သုတ်ထမ်းသွားကြလေသည်။

"ဟေ့လူတွေ ခြေလှမ်း ညီညီလှမ်းပါဗျ။ အပေါ်က လူ သေရောပေါ့" တပ်ဖိုလ်တစ်ယောက်က မညီမညာ ထမ်းလာသဖြင့် ထမ်းစင်လှုပ်နေသောကြောင့် အရေးပေါ် စစ်သည်စု တပ်ဖွဲ့ဝင်များ၏ပခုံးကို ဆွဲ၍ ညီအောင်တန်းစီ ပေးသည်။

"ဟေ့ ဖီဒေါ်၊ ခြေလှမ်းမှန်မှန် လှမ်းပါကွ" ခေါင် သူကြီးလုပ်သည့် လယ်သမားကြီးက လှမ်းပြောလိုက် သည်။

"ဟုတ်ပြီဗျ၊ ညီသွားပြီ" ခြေလှမ်းတစ်ညီတည်း ဖြစ်သွားသည့်အခါ၌ လယ်သမားကြီးတစ်ယောက်က ပြော လိုက်ခြင်းဖြစ်၏။

"ကိုယ်တော်လေး ကိုယ်တော်လေး သတိထား နော်" အမြောက်တပ်ဖိုလ် ဖိုလ်ကြီးတီမိုခင်သည် ထမ်းစင် ဘေးမှ အပြေးလိုက်လာကာ တုန်ယင်သောအသံဖြင့် ပြောလျက် ရှိ၏။

မင်းသားကလေး အင်ဒရေသည် ချိုင့်ဝင်လျက်ရှိ သော ထမ်းစင်ထဲမှနေ၍ မျက်လုံးများကိုဖွင့်ကာ တီမိုခင် ကို လှမ်းကြည့်လိုက်သည်။ ၎င်း၏မျက်လုံး များသည် ပြန်၍ မှိတ်သွားကြပြန်လေသည်။

အရေးပေါ်စစ်သည်စု တပ်ဖွဲ့ဝင်များသည် မင်းသား ကလေး အင်ဒရေကို ခင်တန်းကလေးတစ်ခုအနီးရှိ စခန်း ဆေးရုံသို့ သယ်လာခဲ့ကြသည်။ ထိုနေရာ တစ်ဝိုက်တွင် ဝန်တင်လှည်းတပ်များ စခန်းချလျက် ရှိ၏။ စခန်းဆေးရုံ ဟုသာဆိုသော်လည်း သစ်ငုတ်ကို ကြိုးချည်၍ အမိုးမိုး ထားသည့် ကနဖျင်းတဲသုံးလုံးသာ ဖြစ်လေသည်။ တော အုပ်ထဲ၌ကား မြင်းများနှင့် ဝန်တင်လှည်းများ ရှိ၏။ မြင်း

များသည်ရွှေ့ပြောင်း၍ရသောစားခွက်ထဲမှ ပြောင်းစေ့များ ကို တဖြုတ်ဖြုတ်စား လျက်ရှိ၍ စာကလေးများမှာ မြေကြီး ပေါ်သို့လွင့်စဉ်ဖိတ်ကျထားသော ပြောင်းစေ့ များကို ကောက် စားနေကြသည်။ သွေးနံ့ကို ရသော ကျီးကန်းများသည် သစ်ပင် များကြားတွင် ပျံဝဲကာ တအာအာ အော်မြည်လျက် ရှိကြ၏။ ကနဖျင်းတဲ့ သုံး လုံး၏ ဘေးပတ်လည် ငါးကေ ကျော်ကျော်မျှ ကျယ်ဝန်းသော ကွက်လပ်ထဲ၌ကား စစ် ဝတ်စုံအမျိုးမျိုး ဝတ်ထားသည့် ဒဏ်ရာရသူတပ်သားများ မှာ ထိုင်လျက်တစ် ချို့၊ လဲလျောင်းလျက်တချို့ ရှိနေကြ သည်။ ဒဏ်ရာရသူများအနီး၌လည်း ထမ်းစင်ထမ်းသည့် တပ်သားများသည် စုပြုံဝိုင်းအုံလျက်ရှိကြသည်။ တပ်ဗိုလ် များက ထိုသူများကို ပြန်သွားရန် နှင်ထုတ်သော်လည်း အချည်းနှီးသာဖြစ်လေ သည်။ ထမ်းစင်ထမ်းသည့် တပ်သား များသည် တပ်ဗိုလ်များ၏အမိန့်ကို နာခံခြင်း မရှိဘဲ ထမ်းစင် များကို ထောင်၍ရပ်နေကြရာက တွေ့ကြုံရအံ့ဆဲဆဲ ဖြစ် သော မိမိတို့၏ကံကြမ္မာကို တွေးတောလျက်ရှိကြသကဲ့သို့ ၊ လူနာများဖြင့် တင်းကြမ်း ပြည့်နေသော ကွက်လပ်ကြီးကို မျှော်ကြည့်နေကြလေသည်။ ဒေါသတကြီး အော်ဟစ်သံ များ၊ ခိုကိုးရာမဲ့ညည်းညူသံများသည် ကနဖျင်းတဲများထဲမှ ပေါ်ထွက် လျက်ရှိ၏။ တစ်ခါတစ်ရံ၌ ဆေးတပ်သားများ သည် ကနဖျင်းတဲထဲမှထွက်လာ ကာ ရေခပ်ကြ၏။ အချို့ က ကနဖျင်းတဲဝသို့ ထွက်လာကာ နောက်ထပ်သွင်းရ မည့် လူနာများကို ညွှန်ပြကြ၏။ ကနဖျင်းတဲ့အပြင်ဘက်၌ မိမိ တို့အလှည့်ကို စောင့်လျက်ရှိကြသော လူနာများအနက် အချို့ ညည်းတွားလျက်၊ အချို့က သက်ပြင်းချလျက်၊ အချို့က ငိုလျက်၊ အချို့က အော်ဟစ်လျက်၊ အချို့က ကျိန်ဆဲ လျက်၊ အချို့က အရက်တစာစာ တောင်းလျက် ရှိကြ၏။ အချို့မှာ ကယောင်ကတမ်းဖြစ်၍ နေကြ၏။

တပ်ရင်းမှူးဖြစ်သော မင်းသားကလေး အင်ဒရေကို သယ် ဆောင်လာသော အထမ်းသမားများသည် သွေးအလိမ်း လိမ်းပေကျံ၍ လက်ခြေအပိုင်းပိုင်းပြတ်

လျက်ရှိသော လူနာ များကို ကျော်နင်းကာ ကနဖျင်းတဲတစ်လုံးဆီသို့ ထမ်း လာခဲ့ကြပြီးနောက် တဲဝတွင်ရပ်၍ ညွှန်ကြားချက်များကို စောင့်နေကြ၏။ မင်းသားကလေးအင်ဒရေသည် မျက်လုံး ကို ဖွင့်၍ ကြည့်မိ၏။ မည်သည့်နေရာကို ရောက်နေသည် ဟု ဝေခွဲ၍ မရချေ။ ၎င်း၏စိတ်၌ကား ခပ်စောစောက တွေ့ခဲ့ရသော စားကျက်ကို လည်းကောင်း၊ ဒေါနပင် ကလေးကို လည်းကောင်း၊ ပြောင်းခင်းကြီးကို လည်း ကောင်း၊ ရင်တွင်း၌ ရုတ်တရက်ဖြစ်ပေါ်လာခဲ့သောလူ့ဘဝ ကို ခင်မင်တွယ်တာ တမ်းတမိသောအဖြစ်တို့ကိုလည်း ကောင်း ပြန်၍သတိရလာ၏။ မင်းသားကလေး အင်ဒရေ ၏ထမ်းစင်နှင့် နှစ်လှမ်းကွာလောက်တွင် အရပ်မြင့်မြင့်၊ ဆံပင်နက်နက်၊ ခေါင်းတွင် ပတ်တီးစည်းထားသည့် ရုပ် ရည်ချောမောသောအရာခံဗိုလ်ကလေးတစ်ယောက်သည် ပင်စည်တစ်ခုကို မှီ၍ ရပ်ရင်း ကျယ်လောင်စွာ စကားပြော လျက် ရှိ၏။ လူနာအားလုံးသည် ၎င်း၏စကားကို စိတ် ဝင်စားလျက်ရှိ၏။ ထိုအရာခံဗိုလ်ကလေးမှာ ခေါင်းနှင့် ခြေထောက်တွင် ကျည်ဆန်ထိမှန်လာခဲ့ခြင်း ဖြစ်၏။

"ကျုပ်တို့က ချက်ကောင်. ကန်ထည့်လိုက်တော့ ဒီကောင်တွေ ရှက်ရမ်းရမ်းပြီး တရကြမ်းပစ်တာပေါ့ဗျ။ သင်းတို့ဘုရင်တောင် ကံကောင်းလို့ လွတ်တာပဲ။ ကျုပ်တို့ တပ်ကူတွေများရောက်လာရင် သင်းတို့ တစ်ကောင်တစ်မြီး တောင် ကျန်မှာ မဟုတ်ဘူး"

အရာခံဗိုလ်ကလေး၏ မျက်လုံးများသည် စိတ်အား ထက်သန်ခြင်းဖြင့် တောက်ပလျက်ရှိကြ၏။

မင်းသားကလေးအင်ဒရေသည် အခြားလူနာများ ကဲ့သို့ပင် ထိုအရာခံဗိုလ်ကလေး၏ စကားများကို စိတ် ဝင်စားလာကာ တောက်ပသောမျက်လုံးများဖြင့်

လှမ်း ကြည့်၏။ ဒဏ်ရာကိုလည်း မေ့ပျောက်သွား၏။

"သေခြင်းနှင့် ရှင်ခြင်းဟာ ဘာမှ မထူးပါဘူး၊ သေခြင်း၏အခြားမဲ့မှာ ဘာတွေရှိသလဲ။ သေခြင်း၏အခြား မဲ့မှာ တွေ့ရတဲ့အရာတွေနဲ့ ခုဘဝမှာ တွေ့မြင်နေတဲ့အရာ တွေဟာ အတူတူပဲလား။ ငါဟာ လူ့လောကကြီးက ခွဲခွာ ရမှာကို ဘာဖြစ်လို့ ဆုတ်ဆိုင်းနေရသလဲ။ ဘာဖြစ်လို့ ကြောက်ရမှာလဲ။ အင်း လူတွေအသက်ရှင်နေထိုင်ရခြင်း ရဲ့ ရည်ရွယ်ချက်ကို ငါ နားမလည်ခဲ့ဘူး။ ခုထိလဲ နား မလည်သေးဘူး" မင်းသားကလေး အင်ဒရေသည် ဤသို့ တွေးလျက် ရှိပေသတည်း။

# အခန်း ၃၇

ဆရာဝန်တစ်ယောက်သည် သွေးများစွန်းပေလျက်ရှိသော ဝတ်ရုံကိုဝတ်လျက် ကနဖျင်းတဲအပြင်သို့ ထွက်လာ၏။ သွေးစွန်းမည်စိုးသောကြောင့် ဆေးပြင်းလိပ်ကို လက်မ နှင့်လက်ချောင်းကလေးတစ်ချောင်းကြားတွင် ညှပ်၍ ရွရွ ကလေး ကိုင်ထားသည်။ ဆရာဝန်သည် ခေါင်းမော့ကာ ပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်၏။ မော့သည်ဟုသာ ဆိုရသော်လည်း ပြန့်ကြဲလျက်ရှိသော လူနာများကို ကြည့် ရုံသာ မော့ခြင်းဖြစ်၏။ ဆရာဝန်မှာ အနည်းငယ် အနား ယူချင်ပုံရသည်။ ၎င်းသည် ခေါင်းကို ဘယ်ညာယမ်းပြီး နောက် သက်ပြင်းချလိုက်သည်။

"သွင်းခဲ့၊ သွင်းခဲ့" ဆရာဝန်က မင်းသားကလေး အင်ဒရေအား ကနဖျင်းတဲထဲသို့ သွင်းရမည်လောဟု မေးနေသည့် ဆေးတပ်သားတစ်ယောက်ကို ပြောလိုက်သည်။

မိမိတို့အလှည့်ကို စောင့်နေသည့် တပ်သားလူနာ များသည် မကျေမနပ်ဖြစ်လာကြ၏။

"မင်းညီမင်းသားဆိုတဲ့လူတွေကတော့ နောင်ဘဝ ရောက်တောင် အခွင့်အရေး ဦးဦးဖျားဖျား ရကြမှာ ထင်ပါ ရဲ့" တစ်ယောက်က ပြော၏။

မင်းသားကလေး အင်ဒရေကို ကနဖျင်းတဲထဲသို့ သွင်းလာကာ ယခုမှ လစ်လပ်သွားသော စားပွဲခုံ တစ်လုံး ပေါ်တွင် တင်လိုက်ကြသည်။ ဆေးတပ် သားတစ်ယောက် က ထိုစားပွဲကို ရေဖြင့်ဆေးလျက်ပင် ရှိသေး၏။ မင်းသား ကလေးအင်ဒရေသည် တဲထဲမှ အရာဝတ္ထုများကို သဲကွဲ စွာ မမြင်ရသေးချေ။ မိမိ၏ဘေးမှ ထွက်ပေါ်လာသော ( ညည်းသံများ၊ ပေါင်မှ တဆစ်ဆစ်ကိုက်ခဲသော ဝေဒနာ၊ ဝမ်းဗိုက်မှ နာကျင်သောဝေဒနာ၊ ကျောမှ အောင့်သော ဝေဒနာတို့သည် ဝိုင်း၍ ဖိစီးလျက် ရှိကြ၏။ ၎င်း၏မျက်စိ ထဲ၌ မည်သူမည်ဝါဟူ၍ အကောင်အထည်၊ အလုံးအဖန် အားဖြင့် ခွဲခြား၍မရတော့ဘဲ ကနဖျင်းတဲတစ်ခု လုံး၌ သွေးအလိမ်းလိမ်းယိုစီးကပ်ငြိလျက်ရှိသော အသားတုံး၊ ( အသားတစ်၊ အသားစိုင်ကြီးများဖြင့် ပြည့်နှက်လျက်ရှိ သည်ဟု ထင်ရ၏။ လွန်ခဲ့သည့် ရက်သတ္တပတ်အနည်း ငယ်ခန့်ပူပြင်းသော ဩဂုတ်လတစ်နေ့၌ စမိုးလင့်မှတပ် များ ဆုတ်ခွာလာခဲ့စဉ် စမိုးလင့်ပေတစ်ရာဘေးရှိ ရေကန် ကလေးထဲ၌ ဗလာကျင်းလျက် အစုလိုက်အပြုံလိုက် ရေချိုး နေကြသောတပ်သား များ၏ခန္ဓာကိုယ်များကို ပြန်၍ မြင် ယောင်လာ၏။ မှန်ပါသည်။ ယခုလည်း ဤလူ များ၊ ဤ တပ်သားများ၊ ဤအသားတုံးများ၊ ဤအမြောက်စာများ ကို မြင်ရပြန်ပါ ပြီ။ ဗလာကျင်းလျက်ရှိသော ခန္ဓာကိုယ်များ ကို အစုလိုက်အပြုံလိုက် မြင်ရခြင်း ကြောင့် မင်းသား ကလေး အင်ဒရေမှာ ကြက်သီးတွေ ဖြန်းခနဲထကာ စိတ် လေး လျက်ရှိ၏။

ကနဖျင်းတဲထဲ၌ စားပွဲသုံးလုံးရှိ၏။ နှစ်လုံးမှာ မအားသေးချေ။ မင်းသား ကလေးအင်ဒရေကိုမူ တတိယ စားပွဲပေါ်သို့ တင်လိုက်ကြ၏။ အတန်ကြာသည့် တိုင် အောင် မည်သူမျှ ပေါ်မလာသေးသောကြောင့် မင်းသား ကလေး အင်ဒရေ၏

မျက်လုံးများသည် အခြားစားပွဲနှစ်လုံး ဆီသို့ရောက်သွားကြ၏။ ကပ်လျက်စားပွဲပေါ်တွင် တာတာ ကြီးတစ်ယောက် ငုတ်တုတ်ကြီး ရှိ၏။ ၎င်း၏အနီးတွင် ပစ်ချထားသည့် စစ်ဝတ်စုံကို ကြည့်ခြင်းအားဖြင့် တာတာ ကြီးမှာ ကော့ဆက်မြင်းတပ်မှ ဖြစ်ဟန်ရှိ၏။ တပ်သား လေးယောက်သည် တာတာကြီးကို ဝိုင်းချုပ်ထားကြပြီး မျက်မှန် နှင့် ဆရာဝန်တစ်ယောက်က ၎င်း၏ကြွက်သား အပြိုင်းပြိုင်းထနေသော ညိုမွဲမွဲ ကျောပြင်ကြီးကို လှီးဖြတ် လျက် ရှိသည်။

"အမယ်လေးဗျ၊ အမယ်လေး" တာတာကြီးသည် အော်လိုက်ပြီးနောက် နှာခေါင်းပြားပြား၊ မေးရိုးကားကား မျက်နှာကြီးကို ရှုတ်တရက်မော့ကာ ဖြူဖွေးသောသွား များပေါ်အောင် ပါးစပ်ဖြဲ၍ အံကြိတ်ရင်း ရှုန်းကန်တွန့် လိမ်လျက်ရှိ၏။ ပါးစပ်မှလည်း စူးစူးဝါးဝါး အော်ဟစ် လျက်ရှိပေသည်။ လူများဝိုင်းအုံလျက်ရှိသည့် အခြားစားပွဲ တစ်လုံး၌ကား အရပ် ထောင်ထောင်မောင်းမောင်း၊ အလုံးအဖန်ကောင်းကောင်း လူတစ်ယောက်သည် ပက်လက် ကြီး လန်လျက်ရှိ၏။ ၎င်း၏ခေါင်းသည် စားပွဲအစွန်းမှ အောက်သို့ လန်ကျနေ၏။ လှိုင်းထ၍ နက်မှောင်လျက် ရှိသောဆံပင်များနှင့်တကွ ခေါင်း၏ပုံပန်းသဏ္ဌာန်ကို မြင် ဖူးသည်ဟု မင်းသားကလေးအင်ဒရေက အောက်မေ့မိသေး သည်။ ဆေးတပ်သားများသည် ၎င်း၏ရင်ဘတ်ကို ဖိ၍ ချုပ်ထားကြ၏။ ကြီးမားဖြူဖွေးသော ခြေထောက်ကြီးတစ်ချောင်းသည် တဆတ်ဆတ်တုန်လျက်ရှိ၏။ ထိုလူနာ သည် ရှိုက်ကြီးတငင်ငို လျက်ရှိလေသည်။ ဆရာဝန်နှစ် ယောက်သည် (တစ်ယောက်မှာ မျက်နှာဖြူဖပ်ဖြူရော် ဖြစ်၍ တုန်လျက်ရှိသည်။) ထိုလူနာ၏သွေးဒလဟော ထွက်လျက်ရှိသော ခြေထောက်တစ်ဖက်ကို တစ်စုံတစ်ရာ ပြုလုပ်ပေးနေကြသည်။ တာတာကြီးကို ကုသပေးနေသော မျက်မှန်နှင့်ဆရာဝန်သည် ပြီးစီးသွားပြီဖြစ်၍ ၎င်း၏လူနာကို ဝတ်ရုံအင်္ကျီ ခြုံပေးပြီးနောက် လက်သုတ်ရင်း မင်းသားကလေးအင်ဒရေ၏ စားပွဲသို့ ရောက်လာ၏။

ဆရာဝန်သည် မင်းသားကလေး အင်ဒရေ၏မျက် နှာကိုကြည့်လိုက်ပြီး နောက် ချက်ချင်း လွှဲပစ်လိုက်သည်။

“အဝတ်တွေ ချွတ်ထားပါလားကွ၊ ဘာလုပ်နေ ကြတာလဲ” ဆရာဝန်က ဆေးတပ်သားများကို ဖောက် လိုက်သည်။

အကျႌလက်ပင့်ထားသော ဆေးတပ်သားက မင်း  သားကလေးအင်ဒရေ၏အကျႌကြယ်သီးများကို လျင်မြန်စွာ ဖြုတ်ကာ အဝတ်အစားများကို ချွတ်ပေးနေသည့်အခါ၌ မင်းသားကလေးအင်ဒရေသည် ငယ်ငယ်တုန်းက ဘဝကို ပြန်၍အမှတ်ရလာ၏။ ဆရာဝန်သည် မင်းသားကလေး အင်ဒရေ၏ဝမ်းဗိုက်မှ ဒဏ်ရာကို ငုံ့ကြည့် စမ်းသပ်ပြီး နောက် ပြင်းစွာသက်ပြင်းချလိုက်သည်။ ထို့နောက် တစ် ယောက်ကို လှမ်းခေါ်လိုက်သည်။ ဝမ်းဗိုက်မှ နာကျင်လှ သောဝေဒနာကြောင့် မင်းသားကလေးအင်ဒရေသည် သတိ မေ့သွား၏။ သတိပြန်ရလာသောအခါ၌ကား ကျည်ဆန် ထိမှန်ထားသောပေါင်မှ အရိုးကို ဖြတ်တောက်ပြီးပေပြီ။ ထွက်ကျလျက်ရှိသော အသားတစ်များကိုလည်း လှီးဖြတ် ပြီးပေပြီ။ ဒဏ်ရာကိုလည်း ချုပ်ပြီးပေပြီ။ မင်းသားကလေး အင်ဒရေ၏မျက်နှာကို ရေဖြင့်ပက်ပေးသူက ပက်ပေးကြ ၏။ မင်းသားကလေးအင်ဒရေ မျက်လုံးဖွင့်ကြည့်လိုက်သောအခါ၌ ဆရာဝန်သည် မင်းသားကလေး အင်ဒရေ ကို ငုံ့နမ်းပြီး ဘာမျှ မပြောဘဲ ခပ်သုတ်သုတ်ထွက်သွား လေသည်။

ပြင်းစွာနာကျင်သောဝေဒနာကို ခံစားရပြီးသည့် နောက်၌ မင်းသားကလေး အင်ဒရေသည် ကာလအတော် ကြာမျှ ခံစားရခြင်း မပြုခဲ့ရသော ပီတိမျိုးကို ခံစားရ၏။ ၎င်း၏ဘဝတစ်လျှောက်တွင် တွေ့ခဲ့ကြုံခဲ့ရသော ပျော် စရာ၊ ကြည်နူးစရာ အကောင်းဆုံးအချိန်များ၊ အထူးသဖြင့် ကလေးဘဝတုန်းက အဝတ်အစားတွေ ချွတ်၍ အိပ်ရာဝင် ရသည့်အချိန်၊ အထိန်းတော်ကြီးက သီချင်းဆိုသိပ်စဉ် ခေါင်းကို

ခေါင်းအုံးထဲတွင် နစ်သွားအောင် မြှုပ်၍ နား ထောင်ရင်း အိပ်ရသည့်အချိန်များကို ပြန်ပြောင်းသတိရ လာ၏။ ထိုအဖြစ်အပျက်များသည် အတိတ်ကဖြစ်ခဲ့သည့် အဖြစ်အပျက်များဟု မအောက်မေ့မိဘဲ ယခု လောလော လတ်လတ် ဖြစ်ပျက်နေသည်ဟုပင် ထင်မိသေးသည်။

ဆရာဝန်များသည် တစ်ဖက်စားပွဲပေါ်ရှိ မင်းသား ကလေး အင်ဒရေ မြင်ဖူးသည်ဟု ထင်ရသော လူနာကို ခွဲစိတ်ကုသလျက်ရှိကြ၏။ ဆေးတပ်သားများက ထိုလူနာ ကို ပွေ့ထူကာ ချုပ်ပေးထားကြသည်။

"ကျွန်တော် ကြည့်ပါရစေဦးဗျ၊ အမယ်လေးဗျ၊ အမယ်လေး" ကြောက်ရွံ့ထိတ်လန့်စွာ အော်လိုက်သော အသံ၊ နာကျင်ပြင်းပြစွာ အော်လိုက်သောအသံကို ကြား  ရ၏။

ဤအသံများကို ကြားရသည့်အခါ၌ကား မင်းသား ကလေး အင်ဒရေ ကိုယ်တိုင် အလိုလိုငိုချင်လာ၏။ ကျော် ကြားခြင်းမရှိဘဲ မထင်မရှားဖြင့် သေရ တော့မည့်အတွက် ကြောင့်လော၊ လူ့ဘဝကြီးကို စွန့်ခွာသွားရတော့မည့် အတွက် ကြောင့်လော၊ မည်သည့်အခါမျှ ပြန်ရောက်ရ တော့မည်မဟုတ်သော ကလေးဘဝကို အောက်မေ့ခြင်း ကြောင့်လော၊ သို့တည်းမဟုတ် မိမိကိုယ်တိုင်နှင့်တကွ အခြားသူများပါ ပြင်းပြစွာ ဝေဒနာခံစားနေရခြင်းကြောင့် လော၊ မိမိအနီးရှိလူက သနားစဖွယ် ညည်းတွားနေခြင်း ကြောင့်လော၊ မည်သည့်အကြောင်းကြောင့်ဟူ၍ မသိသော် လည်း မင်းသားကလေးအင်ဒရေသည် ရင်ထဲတွင် တလှိုက် လှိုက် ဖြစ်လာကာ ငိုချင်လာပေသည်။

ဆရာဝန်များက ထိုလူနာအား ဖြတ်ထုတ်လိုက် သောခြေထောက်ကို ပြ၏။ ဖြတ်ပြီးသား ခြေထောက်ကြီး မှာ သွေးတွေကျပ်ခဲကြီးဖုံးကာ ဖိနပ်ရှည်ကြီး စွပ်လျက် ပင် ရှိသေး၏။

“အမလေးဗျ ဘဝ တုံးပါပြီဗျ၊ အဟီး ဟီး ဟီး” ထိုလူသည် မိန်းမတစ်ယောက်ကဲ့သို့ ရှိုက်ကြီးတငင် ငို လျက်ရှိလေသည်။

ထိုလူနာ၏အနီးတွင် ရပ်လျက်ရှိသည့် ဆရာဝန် သည် ထိုလူနာ၏မျက်နှာကို မင်းသားကလေး အင်ဒရေ မမြင်အောင် တစ်ဖက်သို့လှည့်ပေးလိုက်ပြီး ထွက်သွား၏။

“အလို၊ ဘုရား၊ ဘုရား၊ ဘယ်လိုဖြစ်တာပါလိမ့်။ ဘာကြောင့် သူ ဒီကို ရောက်လာပါလိမ့်” မင်းသားကလေး အင်ဒရေသည် တစ်ယောက်တည်း မြည်တမ်းလိုက်မိ၏။

ခြေထောက်တစ်ချောင်းကို ဖြတ်ထုတ်ခြင်းခံရ၍ သနားစဖွယ် ငိုကြွေးလျက်ရှိသူကား အခြားမဟုတ်။ နှစ် ယောက်ချင်း ချိန်းသတ်ရန် မင်းသားကလေး အင်ဒရေ မနားတမ်း လိုက်လံရှာဖွေနေခဲ့သော အနာတိုလီပေတည်း။ သူနာပြု တပ်သားများသည် အနာတိုလီကို ချိုင်းမှ ပွေ့ထူ ကာ ရေတိုက်နေကြသည်။ သို့ရာတွင် အနာတိုလီ၏ယောင် အမ်း၍ တုန်ယင်လျက်ရှိသော နှုတ်ခမ်းများသည် ရေခွက်နှုတ်ခမ်းကိုပင် မြဲမြံစွာတေ့ထားနိုင်ခြင်း မရှိတော့ချေ။ အနာတိုလီသည် ငိုရှိုက်လျက်ရှိ၏။

“ဟုတ်တယ်၊ လက်စသတ်တော့ ဒီလူပဲ။ ခုတော့ ဝေဒနာခံစားရတဲ့ဘဝမှာ ငါ့အဖြစ်နဲ့ လာတူနေပါပကော လား။ ဒီလူနဲ့ ငါဟာ ဘယ်လို ပတ်သက်ခဲ့ဖူးပါလိမ့်”

မင်းသားကလေးအင်ဒရေသည် ဤသို့ တွေး၏။ ( အဖြေကို မတွေ့။ အတန်ကြာမှ သန့်ရှင်း၍ နှစ်လိုဖွယ် ကောင်းသောသူငယ်ဘဝက အဖြစ်အပျက်များသည် ရုတ် တရက် ပေါ်လာကြ၏။ ၁၈၁၀-ပြည့်နှစ်က ကပွဲတစ်ခု တွင် နာတာရှာနှင့် ပထမဆုံးအကြိမ်တွေ့ခဲ့ကြပုံကို အမှတ် ရလာ၏။ နာတာရှာ၏နွဲ့သော

လည်တိုင်နှင့် ညွတ်ပျောင်း သောလက်တံများသည်လည်းကောင်း၊ ရက်ကြောက်ဟန် ရှိသော်လည်း ရှင်လန်း၍ ကြည်စင်ဝင်းပသောမျက်နှာ သည်လည်းကောင်း၊ နာတာရှာအပေါ်တွင် တိမ်းညွတ်ခဲ့ မိသောမေတ္တာစာတ်သည်လည်းကောင်း မင်းသားကလေး အင်ဒရေ၏ဝိညာဉ်အတွင်း၌ နိုးကြားလှုပ်ရှားလာကြ၏။

ထိုအခါကျတော့မှ မင်းသားကလေး အင်ဒရေ သည် ယောင်အမ်း၍ တစ်ဝက်ဖုံးလုနီးပါး ဖြစ်နေသော မျက်လုံးများမှ မျက်ရည်တွေတွေ စီးကျလျက်ရှိ ရင်း မိမိ အား မှုန်ဝါးစွာဝေးကြည့်လျက်ရှိသော ထိုလူနှင့် မိမိတို့ မည်သို့ မည်ပုံ ပတ်သက်ခဲ့ကြခြင်းကို အမှတ်ရလာသည်။ အဖြစ်အပျက်များကို မြင်ယောင်လာသည်။ ထိုလူအား သနားကြင်နာခြင်း၊ ခင်မင်တွယ်တာခြင်းတို့သည် မင်းသားကလေး အင်ဒရေ၏နှလုံးသည်းပွတ်အတွင်း၌ ပေါ်ပေါက် လာကြသည်။

မင်းသားကလေးအင်ဒရေသည် ချုပ်တည်းခြင်းငှာ မတတ်နိုင်တော့ဘဲ မိမိနှင့်တကွသောလူများ၊ မိမိ၏အမှား နှင့်တကွသော လူများ၏အမှားများအတွက် ယူကြုံးမရ ဖြစ်ကာ ရှိုက်ကြီးတငင် ငိုချလိုက်မိသည်။

"ဘုရားသခင်ကိုယ်တော်မြတ်ကြီးဟာ မြေကြီးပေါ် မှာ မှီတင်းနေထိုင်ကြတဲ့ လူအချင်းချင်း၊ ညီအစ်ကိုအချင်း ချင်း ကရုဏာတရားရှေ့ထားဖို့ သွန်သင်တော်မူခဲ့တယ်။ ချစ်သူ မုန်းသူမဟူ၊ ရန်သူ မိတ်ဆွေမခွဲ မေတ္တာတရား ပွားများဖို့ ဆုံးမတော်မူခဲ့တယ်။ အစ်မတော် ထိပ်ထားက လဲ ငါ့ကို မကြာခဏ သွန်သင်ခဲ့တယ်။ ဒါပေမဲ့ ဒီတရား ရဲ့ အဓိပ္ပာယ်ကို ငါ နားမလည်ခဲ့ဘူး။ ဒီတရားကို မမြင် သေးတဲ့အတွက် ငါဟာ လူ့ဘဝကြီးက စွန့်ခွာသွားရမှာ ကို ကြောက်နေတာပါလား။ ငါ မသေသေး လို့ရှိရင် ငါ့ အဖို့ ဒီတရားသာလျှင် ရှိပါတော့ကလား။ ဒါပေမဲ့ ငါ့  အဖို့ ဒီတရားကို သဘောပေါက်ဖို့၊ ဆင်ခြင်ဖို့၊ နှလုံးသွင်း ဖို့ အချိန်မရှိတော့ဘူး။ တရားကို အတွေ့ နောက်ကျခဲ့ပြီ"

# အခန်း ၃၈

နပိုလီယန်သည် စစ်ပွဲတွင် ဒဏ်ရာရသူ၊ ကျဆုံးသူတို့ကို ရွှန်းရွှန်းစားစား ကြည့်၍ မိမိစိတ်ဓာတ်ခိုင်ကြည်မှုကို စမ်း သပ်စစ်ဆေးလေ့ရှိ၏။ သို့ရာတွင် ယခု သော်ကား ကျဆုံး သူများ၊ ဒဏ်ရာရသူများဖြင့် တင်းကြမ်းပြည့်နှက် ဖုံးလွှမ်း လျက်ရှိသည့် စစ်တလင်း၏ ထိတ်လန့်ဖွယ်ရှုခင်းသည် လည်းကောင်း၊ မိမိ ကိုယ်တိုင် သိကျွမ်းသည့် ပြင်သစ် ဗိုလ်ချုပ်ကြီး နှစ်ဆယ်ခန့်တို့ ကျဆုံးဒဏ်ရာရရှိ သည် ဟူ သောသတင်းသည်လည်းကောင်း၊ မိမိလက်ရုံးကြီးတစ်ဆူ ဖြစ်သောပြင် သစ်တပ်ကြီး သွက်ချာပါဒ လိုက်လျက်ရှိပြီ ဟူသော အသိသည် လည်းကောင်း နပို လီယန်၏စိတ်ကို တစ်မျိုးတစ်ဖုံ ပြောင်းလဲလိုက်ချေပြီ။ မိမိအား ကျော်စော ခြင်း နှင့် ကြီးကျယ်ခြင်းအဖြစ်သို့ ရောက်ရှိအောင် ပို့ဆောင် ပေးလိုက်သောအရာမှာ စိတ်ဓာတ်ကြံ့ခိုင်မှု ဖြစ်သည်ဟု နပိုလီယန် အထင်ရောက်လျက်ရှိသော်လည်း ယနေ့မြင်ရ သောစစ်တလင်း၏ ထိတ်လန့်တုန်လှုပ်ထဖွယ် ရှုခင်းသည် နပိုလီ ယန်၏ ထိုစိတ်ဓာတ်ကြံ့ခိုင်မှုကို အနိုင်ရသွားလေပြီ။ နပိုလီယန်သည် စစ်တလင်း မှ မိမိစခန်းချရာ ရှီဗာဒီနို တောင်ကုန်းသို့ မြင်းစီး၍ပြန်ခဲ့၏။ ရှီဗာဒီနို တောင်ကမူ သို့ အရောက်တွင် နပိုလီယန်သည် ရွက်ဖျင်ကုလားထိုင် တွင် ထိုင်ကာ မျက်လွှာ ကိုချလျက် အဝေးမှပစ်ခတ်သံများ ကို နားစွင့်၏။ ၎င်း၏မျက်နှာသည် ဖျော့တော့ ယောင်အမ်း လေးလံလျက်ရှိကာ နှာခေါင်းသည် နီရဲ၍ မျက်လုံးတို့ သည် ရီဝေ လျက်ရှိကြ၏။ အသံသည် ကွဲအက်လျက်ရှိ၏။ နပိုလီယန်သည် မိမိကိုယ်တိုင် ပါဝင်တိုက်ခိုက်လျက် ရှိသော်လည်း မိမိကိုယ်တိုင် နားလည်နိုင်ခြင်းမရှိဟု ယူဆ သော ဘိုရိုဒီနိုတိုက်ပွဲ၏ ပြီးဆုံးချိန်ကို နာကြည်းသော စိတ်ပျက်ခြင်းဖြင့် စောင့်ဆိုင်း၏။ ထိုခဏတွင် မိမိ နှစ် ပေါင်းများစွာ ကျင်လည်ပျော်မွေ့ခဲ့သော အယောင်ဆောင် ဘဝကို ရွံ့မုန်းကာ လူ၏အကြင်နာတရား၊ ကိုယ်ချင်းစာ တရား

တို့သည် နပိုလီယန်၏စိတ်တွင် ပေါ်ပေါက်လာကြ ၏။ စစ်တလင်းတွင် တွေ့မြင်ခဲ့ရသော မချိမဆန့်ဝေဒနာ ခံစားရသည့်အန္တရာယ်၊ သေပွဲသို့ ဝင်ရသည့်အဖြစ်တို့ကို သူကိုယ်တိုင် ခံစားတွေ့ကြုံရသကဲ့သို့ ထင်မှတ်လာ၏။ ရင်ထဲ၌ လေးလျက်ရှိခြင်း၊ ခေါင်းတွင် နောက်ကျိခြင်းတို့ ကြောင့် ငါသည်လည်း သေခြင်းဆင်းရဲနှင့် ဝေဒနာခံရခြင်း ဆင်းရဲခြင်းတို့မှ လွတ်ကင်းမည်မဟုတ် ဟူသော အသိ တရားသည် နပိုလီယန်၏စိတ်၌ ပြက်ပြက်ထင်လာ၏။ ထိုခဏ၌ နပိုလီယန်သည် ကြီးစွာတုန်လှုပ်ခြင်းဖြစ်လျက် မော်စကိုမြို့ကိုလည်း အလိုမရှိတော့ချေ။ စစ်နိုင်ခြင်း ကိုလည်း အလိုမရှိတော့ချေ။ ဘုန်းတန်ခိုးကြီးမားခြင်းကို လည်း အလိုမရှိတော့ချေ။ (သည့်ထက် ဘုန်းတန်ခိုးကြီး စရာကော လိုသေးသလော။) ထိုအချိန်၌ နပိုလီယန်သည် နားနေခြင်း၊ စိတ်၏ငြိမ်းချမ်းခြင်းနှင့် အနှောင်အဖွဲ့ တို့ မှ ကျွတ်ခြင်းကိုသာလျှင် တောင့်တမိ၏။ သို့တိုင်အောင် ဆင်မြီနော့ရွာအနီး တောင်ကုန်းထိပ်သို့ ရောက်ခဲ့စဉ် အမြောက်တပ်မှူးက ညာကိုဗိုရွာရှေ့၌ စုရုံးနေကြသော ရုရှားတပ်များကို ပစ်ခတ်လျက်ရှိသည့် အမြောက်တပ်များ - အား နောက်ထပ် တပ်ကူများပေးရန် တောင်းဆိုသော အခါ နပိုလီယန်သည် တပ်ကူဖြည့်ရန် သဘောတူခဲ့သေး သည်။ အမြောက်တပ်ကူများဖြင့် အားဖြည့်တိုက်သည့် အခါတွင် ရန်သူ အခြေအနေ မည်သို့ရှိကြောင်းကို မိမိထံ အမြန်သတင်းပို့ရမည်ဟုလည်း အမိန့်ပေးခဲ့သေး၏။

တပ်ရေးတစ်ယောက်သည် နပိုလီယန်ထံရောက် လာကာ အမိန့်အတိုင်း မိမိတို့ဘက်က အမြောက်အလက် ပေါင်းနှစ်ရာဖြင့် ရုရှားခံစစ်ကြောင်းကို စုပြုံ ထိုးနက်လျက် ရှိကြောင်း၊ သို့ရာတွင် ရုရှားတို့ နောက်မဆုတ်ဘဲ အပြင်း ခံလျက်ရှိကြောင်းဖြင့် သတင်းပို့၏။

"ကျွန်တော်တို့ အမြောက်များက ရန်သူ စစ်သား တန်းများကို ကောက်ပင်ရိတ်လှီးသကဲ့သို့ တစ်တန်းပြီး တစ်တန်းဖြိုချလျက် ရှိပါသည်။ သို့ရာတွင် ရန်သူတို့

ဆုတ်ခွာခြင်းမရှိ။ ထိုနေရာမှ အပြင်းခံလျက် ရှိကြပါသည်” တပ်ရေးက လျှောက်တင်၏။

“သင်းတို့ ဤမျှသောအမြောက်ဆန်များကို အားရ တင်းတိမ်ဟန်မရှိ။ နောက်ထပ် လိုချင်သေးဟန် တူသည်” နပိုလီယန်က အက်ကွဲသောအသံဖြင့် ဆိုသည်။

“ဘုရား” နပိုလီယန်၏ စကားကို ကောင်းစွာ မကြားသောတပ်ရေးက ထပ်၍လျှောက်၏။

”သင်းတို့ အမြောက်ကျည် နောက်ထပ်လိုချင် သေးဟန်တူသည်။ သင်းတို့ လိုချင်သေးလျှင် သင်းတို့စိတ် ကျေနပ်အောင် အမြောက်ဆန်များကို လွှတ်ဘိ” နပိုလီယန်က မျက်မှောင်ကုတ်၍ ဆို၏။

နပိုလီယန်သည် ထိုအချိန်၌ ဤသို့ ပစ်ခတ်သတ် ဖြတ်ရခြင်းကို စက်ဆုပ်လျက်ရှိကာ ဤအမိန့်မျိုးကို မပေး လိုတော့ချေ။ ယခု ဤအမိန့်ကိုပေးခြင်းမှာ မိမိထံမှ ဤ အမိန့်မျိုးကို အလိုရှိသည်ဟု ထင်ခြင်းကြောင့် တပ်ဗိုလ် များ၏ဆန္ဒအတိုင်း စက်ရုပ်ဆန်ဆန် အမိန့်ပေးရခြင်းမျိုး သာဖြစ်၏။ သို့သော်လည်း တပ်ဗိုလ်များမှာ နပိုလီယန်၏ အမိန့်ကို မရခင်ကတည်းကပင်လျှင် ၎င်းတို့ သဘောနှင့် ၎င်းတို့ဆောင်ရွက်ပြီး ဖြစ်ကြလေသည်။ ဆုံလည်န္တားသည် ဆုံကြိတ်ခြင်းကို မိမိအတွက် လုပ်ခြင်းဖြစ်သည်ဟု အထင် ရောက်ကာ ဆုံ၌ တရစ်ပတ်ပတ်လှည့်သကဲ့သို့ နပိုလီယန် သည်လည်း အတုအယောင်မျှဖြစ်သော ကြီးကျယ်ခြင်းကို အဟုတ်ထင်ကာ ကံကြမ္မာ၏စေခိုင်းချက်ဖြင့် ရက်စက် ကြမ်းကြုတ်၍ လူမဆန်သောအလုပ်ကို ထပ်၍ထပ်၍သာ ပြုလုပ်လျက်ရှိ သည်။

- ဤအဖြစ်အပျက်ကြီး ပေါ်ပေါက်ခြင်းအတွက် အခြားသူများထက် တာဝန်ရှိသောနပိုလီယန်သည် ထိုနေ့ ထိုအချိန်၌သာလျှင် ဆင်ခြင်တုံတရား ကင်းမဲ့ခဲ့သည် မဟုတ်သေး။ နောင်သောအခါ၌လည်း ကောင်းမွန်မြင့် မြတ်ခြင်းကိုလည်းကောင်း၊ လှပတင့်တယ်ခြင်းကိုလည်း ကောင်း၊ သစ္စာတရားကိုလည်းကောင်း နားမလည်ခဲ့ချေ။ ကောင်းမွန်မြင့်မြတ်ခြင်း၊ တော်တည့်မှန်ကန်ခြင်း စသည့် အရာများနှင့် ဆန့်ကျင်ဘက်ဖြစ်၍ လောကပါလတရား များနှင့် လားလားမျှ မကိုက်သော ၎င်း၏အပြုအမူများ အဓိပ္ပာယ်များကိုလည်း နားမလည်ခဲ့ချေ။ ကမ္ဘာတစ်ခြမ်း က ကောင်းချီးဩဘာပေးခြင်းခံရသည့်အလျောက် သွေးနားထင်ရောက်ကာ အမှားကို အမှားဟု မမြင်နိုင်ခဲ့ရှာချေ။ သို့ဖြင့် နပိုလီယန်သည် တရားမှန်ကန်ခြင်း၊ ကောင်းမွန် မြင့်မြတ်ခြင်းစသည့် လောကပါလတရားများနှင့် တကွ လောကလူ့ဘောင်ကြီးကို ဖျက်ဆီးခဲ့လေသည်။

နပိုလီယန်သည် ကျဆုံးသူများ၊ ခြေပြတ်လက်ပြတ် သူများ ပြန့်ကျဲလျက်ရှိသော စစ်တလင်းတစ်ဝိုက်သို့ ထို နေ့က မြင်းဖြင့် လှော့ကြည့်ခဲ့ပြီး (ထိုသို့ ကျဆုံးရခြင်း၊  ဒဏ်ရာအနာတရဖြစ်ခြင်းမှာ မိမိ၏ စိတ်တန်ခိုးကြောင့် ဖြစ်ရသည်ဟု နပိုလီယန် ယုံကြည်သည်။) ပြင်သစ်တပ် သားတစ်ယောက်ကျဆုံးတိုင်း ရုရှားတပ်သား မည်ရွေ့ မည်မျှကျဆုံးသည်ကို ရေတွက်ခဲ့၏။ ပြင်သစ်တပ်သား တစ်ယောက်ကျတိုင်း ရုရှားငါးယောက်ကျသည်ဟု မိမိ ကိုယ်ကို မိမိလှည့်စား၍ ရေတွက်ကာ များစွာနှစ်ထောင်း အားရ ဖြစ်ခဲ့၏။ နပိုလီယန်သည် ထိုနေ့ ထိုအချိန်၌သာ မိမိ၏မိုက်မဲသောအပြုအမူကို နှစ်ထောင်းအားရဖြစ်ခဲ့သည် မဟုတ်သေး။ စစ်မြေပြင်၌ အလောင်းပေါင်းငါးထောင် အထပ်လိုက်၊ အထွေးလိုက်၊ အစုလိုက် အပြုံလိုက်ရှိနေ ခြင်းကို မြင်ရသည့်အခါတွင်လည်း များစွာနှစ်သက်ရွှင်လန်းလှသည်ဖြစ်၍ "စစ်တလင်းသည် များစွာ ကြီးကျယ် ခမ်းနားလှသည်" ဟု ပါရီမြို့နန်းသို့ သဝဏ်လွှာပို့ခဲ့သေး သည်။ နပိုလီယန်သည် ထိုနေ့ ထိုအချိန်၌သာ

မိုက်မဲစွာ ဤမျှ ရေးသားခဲ့သည် မဟုတ်သေး။ နောင် နှစ်ပေါင်းများစွာ ကြာ၍ မိမိ၏ကြီးမြတ်သောလုပ်ငန်းများကို ရေးသား တော့မည်ဟု ပြောဆိုကာ စိန့်ဟယ်လီနာကျွန်းပေါ်တွင် အထီးတည်းနေထိုင်ခြင်းပြုရသည့်အခါ၌လည်း အောက်ပါ အတိုင်း မိုက်မဲစွာ ရေးသားခဲ့ပေသေးသည်။

"ရုရှားစစ်ပွဲသည် ယခုခေတ်သစ် ပြည်သူများ ၏စိတ်ဆန္ဒနှင့် အညီ ဆင်နွှဲသော စစ်ပွဲတစ်ပွဲဟု ခေါ်သင့်ပေသည်။ ထိုစစ်ပွဲသည် ကောင်းမြတ်သော အဓိပ္ပာယ်ကိုဆောင်သော စစ်ပွဲဖြစ်၏။ ပြည်သူများ ၏အကျိုးစီးပွားအတွက် ပြည်သူများ၏ငြိမ်ဝပ်ရေး နှင့် ပြည်သူများ၏လုံခြုံရေးအတွက် တိုက်သော စစ်ပွဲ ဖြစ်၏။ သမားရိုးကျဖြစ်၍ ငြိမ်းချမ်းသော စစ်ပွဲလည်း ဖြစ်ပေသည်။

ထိုစစ်ပွဲသည် မလုံခြုံမှုများကို အဆုံးသတ်၍ လုံခြုံရေးကို အစပျိုးလိုက်ခြင်း ဟူသော ကြီးမြတ် သည့်အရေးတော်အတွက် တိုက်သည့်စစ်ပွဲလည်း ဖြစ်၏။ ထို စစ်ပွဲကို တိုက်ခြင်းကြောင့် လူ့လောက မြေတစ်ခွင်၌ လူအားလုံး၏နေထိုင်မှုဘဝ ကောင်း မွန်ရေး၊ စည်ပင်သာယာရေးတို့ဖြင့် ပြည့်လျှမ်း သည့် ကမ္ဘာသစ်တစ်ရပ် ပေါ်ပေါက်လာခဲ့ပေသည်။ ဥရောပစနစ်ကြီးတစ်ရပ်ကိုလည်း ထူထောင်ပြီး ဖြစ် ခဲ့ပေသည်။ ထိုဥရောပစနစ်ကြီး တည်တံ့ခိုင်မြဲရန် မှာ နှောင်းလူတို့၏ တာဝန်သာ ဖြစ်တော့သည်။

ကျွန်ုပ်သည် ဤအောင်မြင်ချက်ကြီးများကြောင့် များစွာနှစ်ထောင်းအားရ ဖြစ်ကာ ကမ္ဘာမြေပြင်၌ ငြိမ်ဝပ်ပိပြားရေးကို ထူထောင်၍ ကျွန်ုပ်၏အတိုင် ပင်ခံ အဖွဲ့ကြီးနှင့် ကျွန်ုပ်၏မြင့်မြတ်သော မဟာ မိတ်အဖွဲ့ကြီးကို တည်ထောင်ရန် ကြံရွယ်ခဲ့ပေ သည်။ ဤသို့သော ကြီးမြတ်သည့် ရေမြွေရှင် ဧကရာဇ်များ၏ အဖွဲ့ အစည်းကြီးထဲ၌ ကျွန်ုပ်တို့ အားလုံးသည် အိမ်ထောင်စုသားချင်းကဲ့သို့ အကျိုး တူ ကိစ္စများကို ဆွေးနွေးကြကာ ကျွန်ုပ်သည် အရှင်သခင်ကို လုပ်ကျွေးသကဲ့သို့

ကျွန်ုပ်သည် လည်း ပြည်သူကို အလုပ်အကျွေးပြုအံ့ဟု ရည်ရွယ် ခဲ့ပေသည်။ သို့ရာတွင် ကျွန်ုပ်၏အကြံကို တစ်ပါး သူတို့ ခိုးယူသွားခဲ့ကြလေပြီ။

ဤသို့အားဖြင့် ဥရောပတိုက်တွင် လူမျိုးတစ်မျိုး တည်းသာ ပေါ်ပေါက်ခဲ့မည်ဖြစ်ပြီး၊ ဥရောပတိုက် တွင် သွားလာသူတစ်ဦးအဖို့လည်း မည်သည့်နေရာ သို့ ရောက်သည်ဖြစ်စေ၊ မိမိ၏ အဖနိုင်ငံတော် အတွင်းသို့ သွားလာနေသကဲ့သို့ ခံစားရမည်ဖြစ်ပေ သည်။ ကျွန်ုပ်သည် ကူးသန်းသွားလာနိုင်သော မြစ်များအားလုံးကို လူတိုင်း လွတ်လပ်စွာအသုံး ပြုနိုင်ရန်၊ ပင်လယ်သမုဒ္ဒရာပြင်များကို လူတိုင်း လွတ်လပ်စွာ ဖြတ်သန်းနိုင်ရန်၊ ထိုမှတစ်ဆင့် အင်အားကြီးမားသော အမြဲတမ်း စစ်တပ်ကြီးများ ကို ရေမြေရှင်ဘုရင်များ၏ ကိုယ်ရံတော် တပ်များအဖြစ်သို့ လျှော့ချရန် ရည်ရွယ်ခဲ့ပေသည်။

ကြီးမြတ်သော၊ ခိုင်မာတောင့်တင်းသော၊ ခမ်း နားတင့်တယ်သော၊ ငြိမ်းချမ်းသော၊ ဂုဏ်ပြောင် သောအဖနိုင်ငံကြီးဖြစ်သည့် ပြင်သစ်နိုင်ငံသို့ ပြန် လည်ရောက်ရှိလာသောအခါတွင် ပြင်သစ်နိုင်ငံ တော်၏နယ်နိမိတ်များသည် ပြောင်းလဲခြင်း မရှိ၊ ထာဝစဉ် တည်တံ့နေရမည်ဟု ကြေညာရန် ကျွန်ုပ် ရည်ရွယ်ခဲ့သည်။ အနာဂတ်ခေတ်တွင် စစ်ပွဲများ သည်လည်း ခုခံရေးစစ်ပွဲသက်သက်မျှသာ ဖြစ်စေ ရန် ကျွန်ုပ် ရည်ရွယ်ခဲ့သည်။ မိမိတို့ ဘုန်းတန်ခိုး အာဏာကြီးမားရေးအတွက် လုပ်ဆောင်ခြင်း ဟူ  သမျှကိုလည်း အမျိုးသားအကျိုးစီးပွားကို ဆန့် ကျင်သော ပြစ်မှုကြီးအဖြစ် သတ်မှတ်ရန် ရည်ရွယ် ခဲ့သည်။ ကျွန်ုပ်၏သားတော်ကို နိုင်ငံတော်နှင့် တစ်ချက်တည်းရှိစေ၍ ကျွန်ုပ်၏ အာဏာရှင်စနစ် ကို ဖျက်သိမ်းကာ သားတော်၏ တရားဥပဒေနိုင်ငံ တော်ထူထောင်ရန် မျှော်မှန်းခဲ့သည်။

ထိုအခါတွင် ပါရီမြို့တော်သည် ကမ္ဘာ့မြို့ တော်ဖြစ်၍ ပြင်သစ်လူမျိုးသည် ကမ္ဘာ့လူမျိုးတို့၏ စံနမူနာပြလူမျိုး ဖြစ်ပေလိမ့်မည်။

ဤသို့ လုပ်ဆောင်ပြီးသည့်နောက်၌ ကျွန်ုပ် သည် သားတော်အား ဤကိစ္စများကို သင်ကြားပေး ရင်း သာမန်ကျေးတောသားများကဲ့သို့ ကျွန်ုပ် ကိုယ်ပိုင်မြင်းများ၊ လှည်းများဖြင့် နိုင်ငံတော်အနှံ့ အပြားသို့ သွားရောက်လည်ပတ်ခြင်း၊ အများပြည်သူတို့၏ တိုင်ကြားချက်များကို ကြားနာခြင်း၊ နစ်နာသည်များကို မနစ်နာအောင် ဆောင်ရွက်ပြု ပြင်ပေးခြင်း၊ အများပြည်သူတို့အတွက် အဆောက် အအုံများ နေရာအနှံ့အပြားဆောက်လုပ် လှူဒါန်း ခြင်းတို့ကို ပြုလုပ်ခြင်းဖြင့် မိဖုရားခေါင်ကြီးနှင့် အတူ ကျွန်ုပ်၏အားလပ်ချိန်နှင့် တတိယအရွယ်ကို ကုန်လွန်စေတော့အံ့။ လူသတ်သမား၏တာဝန်ကို ထမ်းဆောင်ရန် အတွက် ဘုရားသခင်၏စီမံဖန်တီးခြင်းကိုခံရသော နပို လီယန်ကား ဤသို့လျှင် မိမိ၏ပြုမူဆောင်ရွက်ချက်တို့ သည် အများပြည်သူတို့၏ကောင်းကျိုးအတွက် ဖြစ်သည် ဟူ၍လည်းကောင်း၊ သန်းပေါင်းများစွာသော ပြည်သူ တို့၏ကံကြမ္မာကို မိမိက ခြယ်လှယ်စိုးမိုးခြင်း ပြုနိုင်သည် ဟု လည်းကောင်း ကိုယ့်ကိုယ်ကို နှစ်သိမ့်ခြင်း ပြုခဲ့လေ သည်။

ရုရှားစစ်ပွဲနှင့် ပတ်သက်၍လည်း နပိုလီယန်က အောက်ပါအတိုင်း ရေးသားခဲ့၏။

ဗစ်စက္ကျူလာမြစ်ကို ဖြတ်ကူးသော ကျွန်ုပ်၏ စစ်သည်လေးသိန်းတို့အနက် တစ်ဝက်မျှသော စစ် သည်တို့မှာ သြစထရီးယန်း၊ ပရပ်ရှင်း၊ ဆက်ကဇို၊ ပိုလန်၊ ဘာဗေးရီးယန်း၊ ဝါတင်ဘတ်၊ မက်လင် ဘတ်၊ စပိန်၊ အီတလီ၊ စပိုလီတန် စသည့် လူမျိုး  များ ဖြစ်ကြ၏။ တိကျစွာဆိုရလျှင် ပြင်သစ်ဘုရင့် တပ်တော်ကြီး၏ သုံးပုံတစ်ပုံသည် ဒတ်ချ်လူမျိုး များ၊ ဘယ်လဂျီယန်လူမျိုးများ၊ ရိုင်းနယ်၊ ပိဒ မောင့်နယ်၊ ဆွစ်စ်နယ်၊ ဂျီနီဗာနယ်နှင့် တူရကင် နယ်တစ်ဝန်းမှလူများ၊ ရောမပြည်သားများ၊ အမှတ် ၃၂ တပ်မကြီး စစ်နယ်ဂုမ်းနှင့် တကွ ဘရီမင်း၊ ဟမ်းဘတ်စသည့် နယ်များတွင် မှီတင်းနေထိုင် ကြသူများဖြစ်ကြ၍ ပြင်သစ်စကားသုံးစွဲပြောဆို သည့်

လူဦးရေမှာ တစ်သိန်းလေးသောင်းမျှပင် မရှိချေ။ ရုရှားစစ်ပွဲတွင် ပြင်သစ်နိုင်ငံသည် လူပေါင်း ငါးသောင်းမျှပင် ဆုံးရှုံးခြင်း မရှိချေ။ ရုရှားစစ်တပ် ကား ဝီလနာမှ မော်စကိုသို့ ဆုတ်ခွာစဉ်အတော အတွင်း တိုက်ပွဲအသီးသီး၌ ပြင်သစ်တပ်မတော်၏ ဆယ့်လေးဆမျှ ဆုံးရှုံးခဲ့၏။ မော်စကိုမြို့ကို မီး လောင်ရာ၌ အစာရေစာ ငတ်မွတ်ခြင်း၊ အအေးမိ ခြင်းကြောင့် တောအုပ်များထဲ၌ ရုရှားလူမျိုးပေါင်း တစ်သိန်း သေကျေပျက်စီးခဲ့ရ၏။ နောက်ဆုံး မော်စကိုမှ အိုဗာဒေသသို့ ချီတက်စဉ်၌လည်း ရုရှားစစ်တပ်သည် ရာသီဥတု၏ဒဏ်ကို ခံခဲ့ရ၏။ သို့ဖြင့် ဝီလာနာသို့ ရောက်သောအခါ ရုရှားစစ်တပ် ၏အင်အားသည် ငါးသောင်းမျှသာ ရှိတော့၍ ကာလစ်သို့ ရောက်သောအခါတွင်မူကား တစ် သောင်းရှစ်ထောင်ပင် မပြည့်တော့ချေ။”

ရုရှားနိုင်ငံနှင့် ဖြစ်သော စစ်ပွဲသည် မိမိဆန္ဒ အလျောက်ဖြစ်ရသည်ဟု နပိုလီယန် ယူဆ၏။ ထိုစစ်ပွဲ ၏ကြောက်လန့်ဖွယ်အခြင်းအရာများသည် မိမိ၏စိတ်ဓာတ်ကို ယိမ်းယိုင်စေခြင်းငှာ မစွမ်းနိုင်ဟုလည်း နပို လီယန် ယူဆ၏။ ဤသို့ဖြင့် နပိုလီယန်သည် ဤအဖြစ် အပျက်များအားလုံးသည် မိမိကြောင့်ဖြစ်ရသည်ဟု ရဲတင်း စွာတာဝန်ယူပြီးနောက် ထိုစစ်ပွဲ၌ သေကျေပျက်စီးသော လူရာပေါင်းထောင်ပေါင်းများစွာတို့အနက် ပြင်သစ်လူမျိုး များမှာ အနည်းငယ်သာဖြစ်၍ မက်ဆီယန်နှင့် ဘာဗေးရီး ယန်းလူမျိုးများသာ အများအပြားပါဝင်ကြသည်ဟု ယုံကြည်ထင်မှတ်နေခြင်းဖြင့် ၎င်း၏ နောက်ကျညစ်ထေး သောစိတ်ကို နှစ်သိမ့်ခဲ့ချေသည်တကား။

## အခန်း ၃၉

မြေပိုင်ရှင် ဒေဗီဒေါ့မိသားစုနှင့် ဘုရင့်မြေကျွန်များ ပိုင် ဆိုင်သောလယ်ကွင်းများ၊ စားကျက်များထဲ၌ကား ထောင် ပေါင်းများစွာသော စစ်သည်တပ်သားများသည် စစ်ဝတ်စုံ အမျိုးမျိုးကို ဝတ်လျက် အနေအထားအမျိုးမျိုးဖြင့် လဲကျသေဆုံးလျက် ရှိကြလေသည်။ တစ်ခါကမူ ဘိုရိုဒီနို၊ ဂေါ်ကီ၊ ရှီဗာဒီနို၊ ဆင်မြီနော့စသောကျေးရွာများမှ လယ် သမားများသည် ထိုလယ်ကွင်းများ၌ ကောက်ရိတ်ခဲ့ကြ၏။ ထိုစားကျက်များ၌ မြင်း၊ နွားများကို ထိန်းကျောင်းခဲ့ကြ ၏။ ယခုကား ထိုသို့ မဟုတ်တော့ပြီ။ ထိုလယ်ကွင်းများ ထဲ၌ စစ်ဝတ်စုံအမျိုးမျိုးကို ဝတ်ထားသည့် အရွယ်အစား စားသော စစ်သည်တပ်သားများသည် အနေအထားအဖုံဖုံ ဖြင့် လဲကျသေဆုံးလျက် ရှိကြလေပြီ။ စခန်းဆေးရုံများ အနီးရှိ သုံးကေပတ်လည်ခန့်ရှိသော မြေပြင်နှင့် မြက်ခင်း တစ်ဝိုက်သည် သွေးအိုင်ထွန်းကာ သွေးဗွက်ထလျက်ရှိလေ ပြီ။ ရုရှားစစ်တပ်ကြီးရှိ တပ်ဖွဲ့ အသီးသီးမှ ဒဏ်ရာရသူ၊ ဒဏ်ရာမရသေးသူစသည် အားလုံးသောတပ်သားများ သည် ထိတ်လန့်တုန်လှုပ်သောမျက်နှာများဖြင့် မိုဇဟော့ရွာ ဘက်သို့ အစုလိုက် အပြုံလိုက် အပြေးဆုတ်ခွာလျက်ရှိကြ လေသည်။ အလားတူပင် ပြင်သစ်စစ်တပ်ကြီးရှိ တပ်ဖွဲ့ အသီးသီးမှ တပ်သားများသည်လည်း ဗာလူယေဗိုဘက် ဆီသို့ အထွေးလိုက်၊ အအုံလိုက် တရကြမ်းဆုတ်ခွာလျက် ရှိကြလေသည်။ လွန်စွာပင်ပန်းနွမ်းနယ်၍ လွန်စွာ ဆာ လောင်မွတ်သိပ်လျက်ရှိသောလူအုပ်ကြီးအချို့သည်ကား တပ်မိုလ်များ၏ ခေါင်းဆောင်မှုဖြင့် ရှေ့သို့ချီတက်ဆဲရှိကြပြီး အခြားလူအုပ်အချို့သည်လည်း ကြွံကြွံခံကာ ဆက်လက်ပစ်ခတ်လျက် ရှိကြလေသည်။

ခပ်စောစောက စစ်မြေပြင်သည် လုံ့စွပ်မှ ဖြိုးပြက် ဝင်းလက်သောအရောင်များ၊ အလိပ်လိပ်ထသော မီးခိုး လုံးကြီးများဖြင့် နံနက်ခင်းနေခြည်အောက်တွင် လှပတင့် တယ်ခြင်း၊ ခံ့ညားခြင်းကို ဆောင်ခဲ့သော်လည်း ယခုမူ ကား စိုစွတ်သောနှင်းမြူများ၊ မီးခိုးလုံးကြီးများ၊ စိမ်းရွှေ သောယမ်းငွေ့များနှင့် သွေးညှီနံ့များသာ

ဖုံးလွှမ်းလျက် ရှိလေသည်။ မိုးတိမ်တို့သည် ပြိုဆင်းကျလာကာ ကျဆုံး သူ၊ ဒဏ်ရာရသူ၊ ထိတ်လန့်သူ၊ အားအင်ကုန်ခန်းလျက် ရှိသူ၊ တန့်ရပ်ဆုတ်ဆိုင်းလျက် ရှိသူတို့အပေါ်သို့ ကြီးစွာ သော မိုးသီးမိုးပေါက်တို့ ကျရောက်စေလျက် "အချင်း လူသားတို့၊ ရပ်ကြကုန်လော့၊ တန့်ကြကုန်လော့၊ စဉ်းစား ကြကုန်လော့၊ ဆင်ခြင် ကြကုန်လော့၊ အဓိပ္ပာယ်မရှိသော အမှုကို ဘဇာကြောင့် ပြုကြဘိသနည်း" ဟု သတိပေးနေ သကဲ့သို့ ရှိလေသည်။

အစားအစာနှင့် အိပ်စက်နားနေခြင်းကင်းမဲ့သဖြင့် အင်အားကုန်ခန်းလျက်ရှိ သော နှစ်ဖက်စလုံးမှ တပ်သား များ၏စိတ်၌လည်း "ငါတို့သည် တစ်ဦးကို တစ်ဦး ဆက် လက်သတ်ဖြတ်ခြင်း ပြုသင့်ပါသေး၏လော" ဟူသော သံသယသည် ကြီးစိုး စပြုလာခဲ့လေပြီ။ "နောင်ငယ်တို့၊ ငါတို့ မည်သူ့အတွက် အချင်းချင်း သတ်ဖြတ်နေ ကြဘိ `သနည်း။ မည်သည့်ရည်ရွယ်ချက်ကြောင့် အသေခံကြဘိ သနည်း။ သင်တို့ နှစ်သက်က ဆက်၍ သတ်ဖြတ်ခြင်းပြု ကြကုန်။ ငါမူကား ဤသို့ မပြုလိုပြီ" ဟူသော သဘော ကိုလည်း တပ်သားတိုင်း၏ရင်ထဲ၌ ကိန်းအောင်းစပြုလာ ခဲ့လေ ပြီ။ ညနေစောင်းသော် ဤစိတ်ဓာတ်သည် တပ်သား များ၏ရင်၌ ကျောက်စွဲ သကဲ့သို့ ခိုင်မာလာခဲ့လေပြီ။ ဤသို့ဖြင့် နှစ်ဖက်တပ်သားတို့သည် မိမိတို့ပြုလျက် ရှိ သောအမှုကြီးကို ထိတ်လန့်တုန်လှုပ်ခြင်းဖြစ်လျက် လက် နက် ခဲယမ်းမီးကျောက်တို့ကို လွှတ်ချ၍ ခြေဦးတည့်ရာသို့ ထွက်ပြေးလျက် ရှိကြလေ သည်။

သို့တိုင်အောင် တိုက်ပွဲပြီးဆုံးခါနီး၌ တပ်သားများ သည် မိမိတို့အပြုအမူများ ကို ပြန်၍ ထိတ်လန့်တုန်လှုပ်စ ပြုလာကြကာ စစ်မြေပြင်မှ ထွက်ခွာသွားကြ သော်လည်း ဇောကပ်လျက်ရှိခြင်းကြောင့် ဖုတ်ဝင်လျက်ရှိသူများသဖွယ် ခဲယမ်းမီးကျောက်တို့ကို သယ်ယူလျက်၊ ကျည်ထိုးလျက်၊ ချိန်ရွယ်လျက်၊ ဆက်လက်ပစ်ခတ်လျက်ပင် ရှိကြသေး၏။ ထိုအချိန်၌ကား နှစ်ဖက်စလုံး၌

တပ်သားသုံးပုံလျှင် တစ်ပုံ မျှသာ ကျန်ခဲ့လေပြီ။ ကျန်သမျှသောတပ်သားများမှာ လည်း အသက်ကိုမျှ ကောင်းစွာ မရှုနိုင်လောက်အောင် မောဟိုက်ကာ ချွေးသီး ချွေးပေါက်များ၊ သွေးစက်များ၊ ယမ်းခိုးများဖုံးအုပ်လျက် ရှိကြလေပြီး နှစ်ဖက်စလုံး မှ အမြောက်သည်များသည် တရှိန်ရှိန် အော်မြည် ပျံသန်းကာ ခန္ဓာကိုယ်များကို အပိုင်းပိုင်းအတစ်တစ်ဖြစ်အောင် ခုတ် ဖြတ်လျက်ရှိကြ၏။ ဤသို့ဖြင့် လူတစ် ယောက်၏ဆန္ဒဖြင့်  မဟုတ်ဘဲ လူနှင့် ကမ္ဘာလောကကို စိုးမိုးလျက်ရှိသော ဘုရားသခင်၏အလိုဆန္ဒဖြင့်သာ ဖြစ်နိုင်သည့်ကြောက်မက် ဖွယ်လူသတ်ပွဲကြီး သည်ဆက်လက်ဖြစ်ပွားလျက်ရှိလေသည်။

ထိုအချိန်၌ ရုရှားတပ်နောက်ဖျားသည် အအုပ် အစည်းပျက်ခဲ့လေပြီ။ ပြင် သစ်တို့က တစ်ချက်မျှအားစိုက် ၍ ထိုးလိုက်ရုံဖြင့် ရုရှားတပ်ကြီးသည် မုချ ဆတ်ဆတ် ဘုံဘုံလဲကျတော့မည်သာဖြစ်၏။ အလားတူပင် ပြင်သစ် ( တပ် နောက်ဖျားသည်လည်း အထိန်းအကွပ်မဲ့ခဲ့လေပြီ။ ရုရှားတို့က တစ်ချက်ထိုးလိုက်ရုံ ဖြင့် ပြင်သစ်စစ်တပ်ကြီး သည် ဧကန်မလွဲပြုတ်ပြုတ်ပြုန်းတော့မည်သာ ဖြစ်၏။ သို့ရာတွင် ပြင်သစ်တို့သည် လည်းကောင်း၊ ရုရှားတို့သည် လည်းကောင်း ထို နောက်ဆုံးထိုးနှက်ချက်ကို ပြုလုပ်နိုင် စွမ်းမရှိတော့ပြီ။ ဤသို့ဖြင့် ဆိုရိုဒီနိုစစ်ပွဲ၏ မီးတောက်မီးလျှံ များသည် တဖြည်းဖြည်းအရှိန်လျော့ကာ ငြိမ်းခဲ့လေပြီ။

ဘိုရိုဒီနိုတိုက်ပွဲတွင် ရုရှားတို့၏စစ်သည် တိုက်စစ် မဟုတ်။ ခံစစ်သာ ဖြစ်၏။ ထို့ကြောင့် ရုရှားတို့သည် ထိုနောက်ဆုံးထိုးနှက်ချက်ကို မပြုလုပ်ခဲ့ကြချေ။ တိုက်ပွဲ အစ၌ ရုရှားတို့သည် မော်စကိုသွား ပေတစ်ရာလမ်းမကို ပိတ်၍ ခံစစ်ပြု နေခဲ့ကြခြင်း ဖြစ်၏။ တိုက်ပွဲပြီးဆုံးသော အခါ၌လည်း ၎င်းတို့သည် ခံစစ်ပြုနေရ သောအခြေတွင် သာ ရှိခဲ့၏။ သို့ရာတွင် အကယ်၍ ရုရှားတို့၏စစ်သည် ခံစစ် မဟုတ်ဘဲ တိုက်စစ်ဖြစ်သည်ပင် ထားဦး။ ရုရှားတို့ သည် ထိုနောက်ဆုံး ထိုးနှက်ချက်ကို ပြုလုပ်နိုင်စွမ်း မရှိ တော့ချေ။ ထိုအချိန်၌ ရုရှားစစ်တပ်ကြီးသည်

အကြီး အကျယ်စစ်ပန်းကာ ပြိုကွဲခဲ့လေပြီ။ စစ်မျက်နှာအားလုံး၌ အဖိတ်အစင်၊ အထိအရှ၊ အကျ အနာ များခဲ့လေပြီ။ မိမိ တို့စစ်ကြောင်းကို ကာကွယ်၍သာနေရ သော်လည်း စစ် တပ်ကြီး၏တစ်ဝက်မျှ ပြုတ်ပြုတ်ပြုန်းခဲ့လေပြီ။ . အလားတူပင် ပြင်သစ်တို့သည်လည်း နောက်ဆုံး ထိုးနှက်ချက်ကို မပြုလုပ်ခဲ့ကြချေ။ ပြင်သစ် စစ်တပ်ကြီး သည် လွန်ခဲ့သည့် တစ်ဆယ့်ငါးနှစ်ကာလပတ်လုံး ပွဲတိုင်း အောင်ခဲ့ သော စစ်တပ်ကြီး ဖြစ်၏။ မိမိတို့ဘုရင် နပိုလီယန် ၏ဘုန်းလက်ရုံးစွမ်းပကားကို အကြွင်းမဲ့ ယုံကြည်သော စစ်တပ်ကြီးလည်း ဖြစ်၏။ ဤတိုက်ပွဲ၌ စစ်တလင်း တစ်ဝက်ကိုလည်း သိမ်းပိုက်ခဲ့ပြီးဖြစ်၏။ ၎င်းတို့ဘက်၌ လေးပုံတစ်ပုံမျှသာ အကျအဆုံးရှိ၍ တိုက်ပွဲဝင်ရန် အသင့်  ဖြစ်နေသော အရန်တပ်သားနှစ်သောင်း လည်း ရှိသေး၏။ ဤသို့သော ပြင်သစ်စစ်တပ်ကြီးသည် ထိုနောက်ဆုံး ထိုးနှက်ချက်ကို ပြုလုပ်မည်ဆိုက အလွယ်တကူပြုလုပ် နိုင်ဖွယ် ရှိ၏။ အလွယ်တကူ ပွဲလမ်းရဖွယ်လည်း ရှိ၏။ ရုရှားစစ်တပ်ကြီးကို မူလခံစစ်ကြောင်းမှ ရွေ့သွားအောင် မီးကုန်ယမ်းကုန် စုပြုံတိုက်ခိုက်ခဲ့သည့် ပြင်သစ်စစ်တပ် ကြီးသည် ထိုနောက်ဆုံးထိုးနှက်ချက်ကို ပြုလုပ်သင့်သည် လည်း မှန်၏။ ယင်းသို့ ထိုးနှက် ခြင်းပြုမှသာလျှင် မော်စကို သွားပေတစ်ရာလမ်းကြီးကို ပိတ်ခံလျက်ရှိသည့် ရုရှား တို့ စစ်ပျက်လျက် မိမိတို့ အရေးအောင်မည်ဖြစ်၏။ မိမိတို့ ဘက်မှ တပ်သားအများ ကျဆုံးရကျိုးနပ်မည်ဖြစ်၏။ သို့ ရာတွင် ပြင်သစ်တို့သည်လည်း ထိုနောက်ဆုံး ထိုးနှက်ချက် ကို မပြုလုပ်ခဲ့ကြချေ။ အချို့သော ရာဇဝင်ဆရာများကမူ နပိုလီယန် သည် တိုက်ပွဲမဝင်ရသေးသော ကိုယ်ရံတော် ရဲမက်နှစ်သောင်းကို အသုံးပြုလိုက်ရုံ မျှဖြင့် ဘိုရိုဒီနိုတိုက်ပွဲ တွင် အနိုင်ရမည်ဟု ရေးခဲ့ကြသည်။ နပိုလီယန်က ကိုယ်ရံ တော်တပ်သားနှစ်သောင်းကို အသုံးပြုလျှင် မည်သို့မည်ပုံ ဖြစ်မည်ဟု ခန့်မှန်း ပြောဆိုခြင်းမျိုးကား မိုးဥတုသာ နွေ ဥတုဖြစ်ခဲ့လျှင် မည်သို့ဖြစ်မည်ဟု ပြောဆို ခြင်းမျိုးကဲ့သို့ အဓိပ္ပာယ်ကင်းမဲ့လွန်းလှချေသည်။ မိုးဥတုသည် နွေဥတု မဖြစ်နိုင် ချေ။ အလားတူပင် နပိုလီယန်သည်လည်း ၎င်း၏ ကိုယ်ရံတော်တပ်များကို

အသုံးပြု၍ မရတော့ချေ။ အသုံး မပြုလိုသောကြောင့် မဟုတ်။ အသုံးပြု၍ မဖြစ်နိုင်သော ကြောင့်သာဖြစ်လေသည်။ ဤသို့မဖြစ်နိုင်တော့ကြောင်းကို နပိုလီယန်သာမက ပြင်သစ်စစ်တပ်ကြီးတစ်တပ်လုံးရှိ တပ်ချုပ်၊ တပ်မှူး၊ အကြပ်၊ တပ်သားအားလုံးကလည်း သိပြီးဖြစ်လေသည်။ အကြောင်းမူကား ပြင်သစ်တို့၏ ယိမ်းယိုင်ပြိုကွဲလျက်ရှိသော စိတ်ဓာတ်က ထိုသို့အသုံး ပြုရန် ခွင့်မပြုတော့သောကြောင့်ပေတည်း။

. အားခွန်ဗလနှင့် ပြည့်စုံသော လက်ရုံးကြီးသည် ဘီလူးစီးခံရသကဲ့သို့ လှုပ်ရှားနိုင်ခြင်းမရှိတော့ပြီ။ တန်ခိုး သတ္တိကင်းမဲ့ခဲ့လေပြီ။ ဤအချက်ကို နပိုလီယန်သာမက တပ်ဗိုလ်၊ တပ်သားအားလုံးလည်း ခံစားတွေ့ထိမိလျက် ရှိလေပြီ။ ခါတိုင်းဆိုလျှင် ယခုထက် ဆယ်ပုံတစ်ပုံမျှ လောက် ခွန်အားထုတ်ရုံမျှဖြင့် ရန်သူတို့ကို အကွဲကွဲဖြစ် စေခဲ့သော ပြင်သစ်စစ်တပ်ကြီးသည် ယခုတိုက်ပွဲ၌ စစ်သည်တစ်ဝက်မျှ အကျအဆုံးခံ၍ ရှုပ်ရှုပ်ချုံချုံ တိုက်စစ်ပြုပါ  လျက် အစမှသည် အဆုံးတိုင် စစ်ခေါင်းမာလျက် ရှိသော ရန်သူကို တွေ့လိုက်ရသောအခါ၌ကား ဆောက်တည်ရာ မရအောင် ကြောက်ဒူးတုန်လျက် ရှိလေပြီ။ ထိုးစစ်ပြု သော ပြင်သစ်စစ်တပ်ကြီး၏ စိတ်ဓာတ်အားသည် ကုန် ခန်းခဲ့လေပြီ။ ရုရှားစစ်တပ်ကြီးသည် ဘိုရိုဒီနိုစစ်မြေပြင် ၌ စစ်တံခွန်ဟုခေါ်သော တုတ်ချောင်းတွင် တပ်ထားသည့် အဝတ်ပိုင်းကလေးများ၊ ရန်သူသိမ်းပိုက်သော နယ်မြေများ စသည့် လက်ဆုပ်လက်ကိုင်ပြု၍ရသော ရုပ်ဝတ္ထုအောင် မြင်မှုမျိုးကို မရခဲ့သော်လည်း “စိတ်ဓာတ်အရာ၌ ငါတို့ ထက် သာပေသည်” ဟု ပြင်သစ်တို့ တစိမ့်စိမ့်တွေး၍ ကြောက်ရသည့်စိတ်ဓာတ်အောင်ပွဲကို ရခဲ့လေပြီ။ ရန်သူကို ခုန်အုပ်တိုက်ခိုက်ရာ၌ ချက်ကောင်းတွင် ထိလာသဖြင့် ဒေါသအမျက်ခြောင်းခြောင်းထွက်လျက် ရှိသော ကျားရဲ တိရစ္ဆာန်ကြီးတစ်ကောင်ကဲ့သို့ ပြင်သစ်စစ်တပ်ကြီးသည် လည်း ပြိုလဲပျက်စီးလျက် ရှိလေပြီ။ သို့ရာတွင် ဒဏ်ရာ ကြောင့် ဒေါသထွက်လျက်ရှိသော

ကျားနာကြီးသည် ၎င်း၏ပျက်စီးခြင်းအဖြစ်ကို သိသော်လည်း ရပ်တန့်ခြင်းငှာ မစွမ်း။ ရန်သူကို တရကြမ်းလိုက်သကဲ့သို့ ပြင်သစ်စစ် ၊ တပ်ကြီးသည်လည်း ရပ်တန့်ခြင်းငှာ မစွမ်းနိုင်ဘဲ ရန်သူ့ နောက်သို့ တရကြမ်း လိုက်လာခဲ့လေသည်။ ဤသို့ဖြင့် ပြင်သစ်တို့သည် သွေးရူးသွေးတန်းလိုက်လာခဲ့ရာမှ အရှိန် လွန်ကာ မော်စကိုမြို့သို့ ရောက်လာခဲ့ကြသည်။ သို့သော် လည်း မော်စကိုသို့ရောက်လာသောအခါ၌ကား ရုရှားတို့၏ ခုခံမှုမရှိဘဲနှင့်ပင် ဘိုရိုဒီနိုတိုက်ပွဲတွင်ရခဲ့သည် ဒဏ်ရာ ဖြင့် သွေးတရဟော ယိုစီးကာ ဗုန်းဗုန်းလဲ ကျဆုံးရတော့ ၊ မည်သာ ဖြစ်လေသည်။ ဘိုရိုဒီနိုတိုက်ပွဲမှ ပေါ်ထွက်လာ သော သွယ်ဝိုက်အကျိုးသက်ရောက်မှုသည် စိတ်ဓာတ် ( အင်အားကြီးသူက စိတ်ဓာတ်အင်အားနည်းသူကို အနိုင်ရလိုက်ခြင်းဖြစ်၍ လက်ငင်းအကျိုးတရားမှာကား မော်စကိုမှ နပိုလီယန် ကြောက်အားလန့်အား ထွက်ပြေးရခြင်း၊ စမိုး လင့် ပေတစ်ရာလမ်းဟောင်းအတိုင်း ဆုတ်ပြေးရခြင်း၊ တပ်သားငါးသိန်းရှိသော စစ်တပ်ကြီး ပျက်စီးခြင်းနှင့် နပိုလီယန်၏လက်နက်နိုင်ငံတော်ကြီး ပြိုကွဲခြင်းတို့ ဖြစ်ပေ သတည်း။

# အပိုင်း ၁၁

## အခန်း ၁

ရုပ်၏ပြောင်းလဲလှုပ်ရှားဖြစ်စဉ်သည် မည်သည့်အတိုင်း အတာအထိ ဖြစ်ပေါ်လျက်ရှိသနည်း။ ပြောင်းလဲလှုပ်ရှားမှု ဖြစ်စဉ်၏အစသည် အဘယ်နည်း။ ၎င်း၏အဆုံးသည် အဘယ်နည်း။ ဤအချက်ကို လူ၏အသိဉာဏ်တရားဖြင့် သိမြင်နိုင်စွမ်း မရှိချေ။ လူသည် ရုပ်ဝတ္ထုတစ်ခု၏ပြောင်းလဲ လှုပ်ရှားမှု နိယာမများကို သိသည်ဆိုလျှင် ဤသည်မှာ ပြောင်းလဲလှုပ်ရှားမှုတစ်ခုလုံး၏ ဖြစ်စဉ်ကြီးတစ်ခုလုံးကို သိရှိခြင်း မဟုတ်ချေ။ ထိုဖြစ်စဉ်ကြီးတစ်ခုလုံးထဲတွင် ပါဝင်လျက်ရှိသော ယူနစ်များ(ဝါ) ကေမူများ၏နိယာမ ကို သိခြင်းသာလျှင် ဖြစ်လေသည်။ သို့ရာတွင် အဆက် မပြတ် ဖြစ်ပေါ်လျက်ရှိသော ပြောင်းလဲမှု ဖြစ်စဉ်ကြီးကို ဤသို့ ကေမူများအဖြစ် ခွဲခြမ်းစိတ်ဖြာကြည့်ရှုခြင်းကြောင့် လူ၏အတွေးအမြင်သည် မှားယွင်းလျက်ရှိခြင်းကို တွေ့ရ တတ်လေသည်။

လှုပ်ရှားပြောင်းလဲမှုဖြစ်စဉ်ကြီးကို ကေမူများအဖြစ် တစ်စိတ်တစ်ဒေသ ခွဲခြမ်းကြည့်ရှုခြင်းကြောင့် အမှားတွေ့ရ ပုံနှင့် စပ်လျဉ်း၍ ရှေးဟောင်းခေါ်မတိုင်းသားများ၌ ထင် ရှားသည့်ဒဏ္ဍာရီပုံပြင်တစ်ခုရှိ၏။ လူစွမ်းကောင်း အာခိလီ သည် လိပ်ထက် ဆယ်ဆမြန်သော်လည်း ရှေ့ကသွား လျက်ရှိသောလိပ်ကို မည်သည့်အခါမျှ မမီဟု ထိုဒဏ္ဍာရီ ကဆို၏။ သို့ဖြစ်လျှင် လူစွမ်းကောင်းအာခိလီသည် လိပ်ထက် ဆယ်ဆမြန်ပါလျက် ရှေ့ကသွားလျက်ရှိသော လိပ်ကို မည်သည့်အတွက်ကြောင့် မမီသနည်း။ ဤသည်ကို ၎င်းတို့က ဤသို့ ဖြေကြသည်။ အာခိလိနှင့် လိပ်

တို့ အပြေးပြိုင်ကြရာ၌ လိပ်သည် အာခိလိ၏ရှေ့ဆယ်ဆကွာ သောနေရာမှ စ၍ တာထွက်၏။ တာလွှတ်သည့်အချိန်၌ အာခိလိနှင့် လိပ်သည် တာထွက်လာခဲ့ကြ၏။ လိပ်တာ ထွက်သည့်နေရာသို့ အာခိလိ ရောက်လာသည့်အချိန်၌ လိပ်သည် ထိုအကွာအဝေး၏ဆယ်ပုံတစ်ပုံ ရှေ့က ရောက် နေလေပြီ။ အာခိလိက ထိုဆယ်ပုံတစ်ပုံ အကွာအဝေးကို ရောက်လာသည့်အခါ၌ လိပ်သည် ထိုခရီးအကွာအဝေး၏ အပုံတစ်ရာပုံ တစ်ပုံ ရှေ့က ရောက်နေပြန်လေပြီ။ အာ ခိလိက ထိုအပုံတစ်ရာပုံ တစ်ပုံ အကွာအဝေးသို့ ရောက် လာသောအခါ လိပ်သည် ထိုခရီးအကွာအဝေး၏ အပုံ တစ်ထောင်ပုံတစ်ပုံ ရှေ့က ရောက်နေပြန်လေပြီ။ အာ ခိလိက ထိုအပုံတစ်ထောင်ပုံတစ်ပုံ အကွာအဝေးသို့ ရောက် လာသောအခါ လိပ်သည် ထိုခရီးအကွာအဝေး၏ အပုံ တစ်သောင်းပုံတစ်ပုံ ရှေ့က ရောက်နေပြန်လေပြီ။ အာခိလိ က ထိုအပုံတစ်သောင်းပုံတစ်ပုံ အကွာအဝေးသို့ ရောက်လာ ပြန်သည့်အခါ လိပ်သည် ထိုခရီးအကွာအဝေး၏ အပုံတစ် သိန်းပုံတစ်ပုံ ရှေ့ကရောက်နေပြန်လေပြီ။ ကြည့်။ ဤသို့ ဆက်၍ ဆက်၍တွက်သော် လိပ်သည် အာခိလိရှေ့က အမြဲရောက်နေပြီမဟုတ်လား။ အာခိလိသည် (လိပ်ထက် ဆယ်ဆမြန်သော်လည်း)လိပ်ကို မည်သည့်အခါမျှ မီနိုင် တော့မည်မဟုတ်ကြောင်း တွေ့ရပြီမဟုတ်လောဟု ၎င်းတို့ က ဆိုကြ၏။ ရှေးဟောင်း ခေါမတိုင်းသားတို့အဖို့ ဤပုစ္ဆာ သည် ဖြေရှင်းမရနိုင်သောပုစ္ဆာတစ်ခု ဖြစ်ခဲ့ဟန်ရှိ၏။ စင်စစ်သော်ကား ထိုအဖြေသည် ယုတ္တိရှိသောအဖြေမဟုတ် ချေ။ ဤသို့ အဓိပ္ပာယ် ကင်းမဲ့သောအဖြေမျိုး ထွက်လာရ ခြင်းမှာ အခြားကြောင့် မဟုတ်။ အာခိလိနှင့်လိပ်တို့ ၏ ပြောင်းလဲလှုပ်ရှားမှု (ဝါ) ရွေ့လျားမှုကား အဆက် မပြတ် ဖြစ်ပေါ်လျက်ရှိစဉ် ကျွန်ုပ်တို့က ထိုပြောင်းလဲ လှုပ်ရှားမှု(ဝါ) ရွေ့လျားမှုကို သီးသန့်ယူနစ်များ(ဝါ) ကေမူများအဖြစ် ခွဲခြမ်းစိတ်ဖြာ ပစ်သောကြောင့်ပင်ဖြစ်၏။ တစ်နည်းဆိုရသော် အာခိလိနှင့် လိပ်တို့၏ အဆက်မပြတ် ရွေ့လျားမှုတည်းဟူသော ဖြစ်စဉ်ကြီးတစ်ခုလုံးကို ၎င်းတို့ နှစ်ဦး၏

အကွာအဝေးတည်းဟူသော ကေမူများအဖြစ် ခွဲခြမ်းစိတ်ဖြာကြည့် သောကြောင့် ပင် ဖြစ်၏။

မှန်ပါသည်။ ပြောင်းလဲလှုပ်ရှားမှု ဖြစ်စဉ် (ဝါ) ရွေ့လျားမှုဖြစ်စဉ်ကြီးကို ဤသို့ ကေမူများအဖြစ် ထပ်၍ ထပ်၍ ခွဲစိတ်ကြည့်သွားမည်ဆိုလျှင် အာခိလိနှင့် လိပ်၏ အကွာအဝေးသည် အပုံတစ်သန်းပုံတစ်ပုံ၊ ထိုမှတစ်ဆင့် အပုံတစ်ကုဋေပုံ တစ်ပုံစသဖြင့် ဆက်၍ဆက်၍ သွားခြင်း ဖြင့် အဖြေနှင့် နီးစပ်နိုင်သည်ဟု ပြောနိုင်ပါသည်။ သို့ ရာတွင် တိကျသောအဖြေကိုကား မည်သည့်အခါမျှလည်း ရလိမ့်မည် မဟုတ်ချေ။ မည်သည့်အခါမျှလည်း အဆုံးသို့ ရောက်တော့မည် မဟုတ်ချေ။ သို့ ဖြစ်ရကား ထိုပုစ္ဆာ၏ အဖြေကို ရရန်မှာ တစ်နည်းသာ ရှိပါသည်။ ယင်းမှာ အခြား မဟုတ်။ လောက၌ အဆုံးမရှိ အတိုင်းမသိသေး ငယ်သောကိန်းဟူ၍ ရှိသည်။ ထို ကိန်းတို့သည်လည်း ဆယ်ဆမျှခြားနားကြသည်ဟူသော အချက်ကို အသိအမှတ် ပြုခြင်း၊ ထိုခြားနားချက်ကို ဤသို့ဖြင့် အတိုင်းမသိ သေးငယ်သောကိန်းသို့ ရောက် သည်အထိ ခွဲခြမ်းစိတ်ဖြာ ခြင်းစသည့်နည်းသာလျှင် ဖြစ်ပါသည်။ ဤနည်းဖြင့် သာလျှင် ထိုပုစ္ဆာကို ဖြေရှင်းနိုင်မည် ဖြစ်ပါသည်။ ထိုမှ လွဲလျှင် အခြားနည်း မရှိ တော့ပါ။

ခေတ်သစ် သင်္ချာပညာ၌ အဆုံးမရှိ အတိုင်းမသိ သေးငယ်သော ကိန်းတို့ အထိ တွက်ချက်ယူနိုင်သော အတတ်ပညာပေါ်ပေါက်လာခဲ့လေပြီ။ ထို့ကြောင့် ဖြေရှင်း တွက်ချက်၍ မရနိုင်ဟု ထင်ခဲ့သော ပြောင်းလဲလှုပ်ရှားမှု (ဝါ) ရွေ့လျားမှု ပုစ္ဆာများကို တွက်ချက်ဖြေရှင်းနိုင်ခဲ့ ပေပြီ။

ရှေးခေတ်လူများသည် ခေတ်သစ်သင်္ချာပညာရပ် များကို တတ်မြောက်ခြင်း မရှိခဲ့ကြသေးချေ။ ထို့ကြောင့် သာလျှင် ၎င်းတို့သည် အာခိလိနှင့် လိပ် တို့၏ရွေ့လျားမှု ပုစ္ဆာကို တွက်ချက်မရခဲ့ကြခြင်း ဖြစ်လေသည်။ ခေတ်သစ် သင်္ချာ

ပညာရပ်ကား ထိုသို့ မဟုတ်ချေ။ ခေတ်သစ် သချ်ာပညာရပ်များသည် ရွေ့လျားမှု ပုစ္ဆာများကို ကိုင်တွယ်  ရာ၌ အဆုံးမရှိ အတိုင်းမသိ သေးငယ်သောကိန်းဟူ၍ ရှိကြောင်း လက်ခံခဲ့ကြ၏။ ဤသို့ဖြင့် ခေတ်သစ်သချ်ာ ပညာရပ်များသည် ပြောင်းလဲလှုပ်ရှားမှု(ဝါ) ရွေ့လျားမှု၏ အဓိကအသွင်လက္ခဏာကြီးဖြစ်သော (အကြွင်းမဲ့ ဆက်စပ် ဖြစ်ပေါ်မှုတရား) နှင့် ကိုက်ညီလျက်ရှိကြ၏။ ဤသို့ဖြင့် အဆက်မပြတ်ပြောင်းလဲလှုပ်ရှားမှု ဖြစ်စဉ်ကြီးတစ်ခုလုံး ကို မကြည့်ဘဲ ထိုဖြစ်စဉ်ကြီးထဲတွင် အကျုံးဝင်လျက်ရှိ သော သီးသန့်ဧကမှုများကိုသာ ကြည့်ခြင်းကြောင့် ပေါ် ပေါက်သည့်အဖြေများကို အဖြေမှန်သို့ ရောက်အောင် ပြု လုပ်ပေးလျက်ရှိ၏။

ရာဇဝင်ဆိုင်ရာလှုပ်ရှားမှုများ၏ နိယာမများကို လေ့လာရာ၌လည်း ထို့အတူပင်ဖြစ်လေသည်။ လူ့လောက ကြီး၏လှုပ်ရှားမှုသည် အဆက်မပြတ် ဖြစ်ပေါ်လျက်ရှိ သော ပြောင်းလဲမှုဖြစ်စဉ်ကြီး ဖြစ်၏။ ထိုလှုပ်ရှားမှုထဲတွင် အကျုံးဝင်လျက်ရှိသည့် လူပုဂ္ဂိုလ်တစ်ဦးချင်း တစ်ဦး ချင်းတို့၏လှုပ်ရှားမှုကား ယူနစ်များ(ဝါ) ဧကမှုများနှင့် အလားသဏ္ဍာန် တူလေသည်။ ထို့ကြောင့် လူ့ လောက ရာဇဝင်တည်းဟူသော ပြောင်းလဲမှုဖြစ်စဉ်ကြီးတစ်ခုလုံး ကိုကြည့်လျှင် လူပုဂ္ဂိုလ်တစ်ဦးချင်း တစ်ဦးချင်း၏ဆန္ဒ တည်းဟူသော ယူနစ်များ(ဝါ) ဧကမှုများအဖြစ် ခွဲခြမ်းစိတ်ဖြာကြည့်ရှုပါက အမှန်သို့ ရောက်နိုင်မည် မဟုတ် ချေ။

ရာဇဝင်၏ရည်ရွယ်ချက်သည် အဆက်မပြတ် ဖြစ် ပေါ်လျက်ရှိသော လူ့လောက လှုပ်ရှားမှုကြီး၏နိယာမ များကို ရှာဖွေရန် ဖြစ်၏။ ဤသို့ ရှာဖွေရာ၌ ရှေးရာဇဝင် သိပ္ပံပညာသည် နည်းနှစ်နည်းကို အသုံးပြုခဲ့၏။

ပထမနည်းမှာ အဆက်မပြတ် ဖြစ်ပေါ်လျက် ရှိ သော လူ့လောက၏အဖြစ်အပျက်စဉ်ကြီးထဲမှ ဧကမှုတစ်ခု ဖြစ်သော အဖြစ်အပျက်တစ်ခုကို ရွေးထုတ်၍ ၎င်းတစ်ခု တည်း စ-လယ်-ဆုံး သီးခြားစစ်ဆေးသည့်နည်း

ဖြစ်၏။ (စင်စစ်၌ အဖြစ်အပျက်တစ်ခုတွင် အစဟူ၍ မည်သည့် အခါမျှ မရှိခဲ့ပါ။ အဖြစ်အပျက်တစ်ခုသည် အခြားအဖြစ် အပျက်တစ်ခုမှ အလျဉ်မပြတ် စီးဆင်း ထွက်ပေါ်လာခြင်း သာ ဖြစ်ပါသည်။) ဒုတိယနည်းမှာ လူတစ်ယောက် (ရှင်ဘုရင် တစ်ပါး ( သို့မဟုတ် စစ်ဗိုလ်ချုပ်တစ်ဦးစသည်) ၏ဆောင်ရွက်ချက် များကို များ စွာသောလူပုဂ္ဂိုလ်များ၏စိတ်ဆန္ဒများအပေါ် ကိုယ်စားပြုချက်၊ ထင်ဟပ်ချက် အဖြစ် ယူဆသည့်နည်း ဖြစ်၏။ (စင်စစ်၌ ရာဇဝင်ကျော်ပုဂ္ဂိုလ်ကျော်တစ်ဦး၏ ဆောင်ရွက်ချက်တို့သည် များစွာသောလူတို့၏ဆန္ဒများကို မည်သည့်အခါမျှ ကိုယ်စားမပြုနိုင်ပါ။) ရာဇဝင် သိပ္ပံပညာသည် အဖြေမှန် (ဝါ) အမှန် တရားကို ရှာဖွေရာ၌ သေးငယ်သည်ထက် သေးငယ်သော ကေမူများကို ရှာဖွေစစ်ဆေး တတ်၏။ သို့ရာတွင် မည်မျှ သေးငယ် သောကေမူများကို ရှာဖွေကြစေ၊ ကေမူတစ် ခုကို အခြား ကေမူတစ်ခုမှ သီးခြားခွဲထုတ်၍ စစ်ဆေးခြင်း(ဝါ) ဤအရာကား ဤ အဖြစ်အပျက်၏မူလအစပင် ဖြစ်တော့ သည်ဟု ဆွဲထုတ်ပြခြင်း(ဝါ) ရာဇဝင် ဇာတ်ဆောင်ပုဂ္ဂိုလ် ကျော်တစ်ဦး၏ ဆောင်ရွက်ချက်များသည် လူပုဂ္ဂိုလ်တို့၏ စိတ်ဆန္ဒများကို ကိုယ်စားပြုသည်ဟု ပြောဆိုခြင်း စသည့် နည်းလမ်းများသည် မှန်ကန်သည်ဟု ကျွန်ုပ် မထင်ချေ။

ရာဇဝင်သိပ္ပံညာက ဆွဲထုတ်ပြခဲ့သော ကောက် ချက်များ၊ အဖြေများသည် “ဖုန်မှုန့်” များသာ ဖြစ်လေ သည်။ ရာဇဝင်ကောက်ချက်များသည် “ဖုန်မှုန့်” များ ဖြစ် ကြောင်း သက်သေပြရန်မှာလည်း အထူးတလည် အား ထုတ်ဖို့ မလိုချေ။ ကေမူတည်းဟူသော ရာဇဝင်အဖြစ် အပျက်တစ်ခုကို သီးခြားဆွဲထုတ်ပြကာ (ဝေဖန်ရေးနှင့် သက်သေခံပစ္စည်းအဖြစ် တင်ပြရေးအတွက်ကား ဤသို့ တသီးတခြား ဆွဲထုတ်ပြခွင့်ရှိသည်ဟု ထင်ပါသည်။) ရာဇဝင်သိပ္ပံပညာက လေ့လာသုံးသပ်ခဲ့သော ကေမူ(ဝါ) အဖြစ်အပျက်ဟူသမျှသည် ဤသို့ တသီးတခြားဆွဲထုတ် ပြသော ကေမူ(ဝါ) အဖြစ်အပျက်များသာဖြစ်သည်ဟု

ထောက်ပြလိုက်ရုံမျှဖြင့် ကိစ္စပြီးနိုင်ပါသည်။ တစ်နည်း "ခင်ဗျားတို့ ဆွဲထုတ်ပြခြင်း မျိုးလောက်ကိုကား နှပ်မစင် သေးသည့် ကလေးငယ်တစ်ဦးပင် ဆွဲထုတ်ပြတတ်ပါသည်" ဟုဆိုကာ ဆွဲထုတ်ပြလိုက်ရုံသာ ရှိပါသည်။ ထို အခါ၌ ရာဇဝင်ကျမ်းများသည "စက္ကူစုတ်" များသာ ဖြစ် ကြောင်း အလွယ်ကလေးဖြင့် သက်သေပြနိုင်ပါလိမ့်မည်။

ရာဇဝင်၏နိယာမများကို ရှာဖွေရာ၌ ၎င်းတို့၏ နည်း မှားသည်ဟုဆိုလျှင် မည်သည့်နည်းသည် အမှန် နည်း။ မည်သည့်နည်းဖြင့် ရှာဖွေမည်နည်း။ ' ကျွန်ုပ်အထင်၌ကား အဆုံးမရှိ အတိုင်းမသိ သေးငယ်သော ဧကမူများ (တစ်နည်းဆိုရလျှင် ရာဇဝင် ( အဖြစ်အပျက်ကြီးထဲ၌ ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင် ရွက်ခဲ့သော ဧရာမအများစု ပြည်သူလူထုကြီး၏ စိတ် သဘောထားများ၊ ဆန္ဒများ) ကို လေ့လာပြီးနောက် ၎င်း တို့ကို ပေါင်းစပ်ဖွဲ့စည်းကြည့်ခြင်း (တစ်နည်းဆိုရသော် ထိုအဆုံးမရှိ အတိုင်းမသိ သေးငယ်သောဧကမူများကို စုပေါင်းဖွဲ့စည်းကြည့်ခြင်း) ဖြင့် ရာဇဝင်၏နိယာမများကို တွေ့နိုင်ဖွယ်ရှိသည်ဟု ယူဆပါသည်။

ဆယ့်ကိုးရာစုနှစ်၏ ပထမဆယ့်ငါးနှစ်အတွင်းက ဥရောပတိုက်၌ သန်းပေါင်းများစွာသော ပြည်သူလူထုကြီး ၏ ထူးခြားဆန်းကြယ်သောအဖြစ်အပျက်ကြီးတစ်ရပ် ပေါ်ပေါက်ခဲ့သည်။ လူများသည် မိမိတို့၏ နေ့စဉ်ဆောင် ရွက်နေကျ အလုပ်များကို စွန့်ပစ်လျက် ဥရောပတိုက် အနောက်ဘက်စွန်းမှ အရှေ့ဘက်စွန်းသို့ ရောက်လာခဲ့ကြ ပြီးနောက် တစ်ဦးကို တစ်ဦး လုယက်ခဲ့ကြသည်။ သတ် ဖြတ်ခဲ့ကြသည်။ နိုင့်ထက်ကလူ ပြုခဲ့ကြသည်။ အောင်နိုင် ခဲ့ကြသည်။ ရှုံးနိမ့်ခဲ့ကြသည်။ ထိုသို့ဖြင့် ၎င်းတို့အားလုံး ၏ ဘဝလမ်းကြောင်းကြီးတစ်ခုလုံးသည် တစ်မျိုးတစ်ဖုံ ပြောင်းလဲသွားခဲ့သည်။ အစတွင် အရှိန်ပြင်းသလောက် အဆုံး၌ လေးကန်နှေးကွေးသွားသော လှုပ်ရှားမှုကြီးတစ်ခု ပေါ်ပေါက်လာခဲ့သည်။ ထို လှုပ်ရှားမှုကြီး၏ အကြောင်း တရားသည် အဘယ်နည်း။ ထိုလှုပ်ရှားမှုကြီးကို မည်

သည့် နိယာမတရားက စိုးမိုးနေသနည်းဟူသော အမေး ပုစ္ဆာကို လူတို့သည် ကြံစည်အားထုတ် ရှာဖွေခဲ့ကြသည်။

ဤအမေးပုစ္ဆာကိုဖြေသည့်အနေဖြင့် ရာဇဝင်ဆရာ များသည် ပါရီမြို့ရှိ တစ်ခုသော အဆောက်အအုံထဲမှ တစ်စုသောလူပုဂ္ဂိုလ်အချို့၏ ဆောင်ရွက်ချက်များ၊ ပြောဆို ချက်များကို လက်ညှိုးထိုးပြခဲ့ကြ၏။ ထိုဆောင်ရွက်ချက်၊ ပြောဆိုချက်များကို "တော်လှန်ရေး" ဟု အမည်နာမ ပေး ခဲ့ကြ၏။ နပိုလီယန်၏အတ္ထုပ္ပတ္တိ၊ ၎င်းကို ထောက်ခံသူ တို့၏ အတ္ထုပ္ပတ္တိ၊ ၎င်းကို ဆန့်ကျင်သူတို့၏ အတ္ထုပ္ပတ္တိ များကို အသေးစိတ်ဖော်ပြခဲ့ကြ၏။ ထိုထိုပုဂ္ဂိုလ်များက ( အခြားသူများအား မည်သို့ သြဇာလွှမ်းမိုးခဲ့ကြပုံတို့ကိုလည်း လျှာထွက်မတတ် ပြောခဲ့ကြ၏။ ယင်းသို့ ထုတ်ဖော်ပြော ဆိုညွှန်ပြပြီးသည်၏နောက် "ဤသည်တို့ကား ဤလှုပ်  ရှားမှုကြီး၏ အကြောင်းတရားများဖြစ်၍ ဤအခြင်းအရာ များကား ဤလှုပ်ရှားမှုကြီးကို စိုးမိုးနေသည့် နိယာမတရား တို့ပေတည်း" ဟု မိန့်မြွက်ခဲ့ကြလေသည်။

သို့ရာတွင် လူ၏ဆင်ခြင်တုံတရားသည် အဆိုပါ - ရာဇဝင်ဆရာတို့၏ ရှင်းလင်းဖွင့်ဆိုချက်ကို လက်ခံခြင်း မပြုချေ။ ထိုမျှမက ၎င်းတို့၏တွက်နည်းသည် သွက်သွက် လည်အောင် မှားလျက်ရှိသည်ဟုလည်း ပြောင်ပြောင်တင်း တင်း ပြောဆိုလျက် ရှိလေသည်။ အကြောင်းမူကား ၎င်းတို့ သည် (နပိုလီယန်နှင့် လူတစ်စုတည်းဟူသော) အသေးအဖွဲ ကလေးတစ်ခုကြောင့် (လူသန်းပေါင်းများစွာ သေကြေပျက် စီးရခြင်းဟူသော) အဖြစ်အပျက်ကြီးတစ်ရပ် ပေါ်ပေါက် လာခြင်း ဖြစ်သည်ဟု ပြောဆိုလျက် ရှိကြသောကြောင့် တည်း။

. စင်စစ်၌ ပြင်သစ်တော်လှန်ရေးနှင့် လူများစု၏ ဆန္ဒကို နပိုလီယန်က မွေးထုတ်ပေးလိုက်ခြင်း မဟုတ် ချေ။ လူများစု၏ဆန္ဒကသာ ပြင်သစ်တော်လှန်ရေးနှင့် နပိုလီယန်ကို မွေးထုတ်ပေးလိုက်ခြင်း ဖြစ်လေသည်။ ပြင် သစ်တော်လှန်ရေး

နှင့် နပိုလီယန်ကို မြေမြှုပ်သင်္ဂြိုဟ်ခဲ့သူ မှာလည်း လူများစု၏ဆန္ဒသာ ဖြစ်လေသည်။

"သို့ရာတွင် အောင်ပွဲရတိုင်း အောင်နိုင်သူ အာဇာ နည်ဟူ၍ ရှိမြဲမဟုတ်လား။ နိုင်ငံတစ်နိုင်ငံ၌ တော်လှန် ရေးတစ်ခုရှိတိုင်း ကြီးမြတ်၍ ထင်ရှားသည့် ခေါင်းဆောင် ပုဂ္ဂိုလ်ကျော်တို့ ရှိမြဲ မဟုတ်လော"ဟု ရာဇဝင်က စော ဒက တက်၏။

"မှန်ပါသည်။ အောင်ပွဲများရှိတိုင်း အောင်နိုင်သူ အာဇာနည်ဟူ၍ ရှိမြဲ ဖြစ်ပါသည်။ သို့ရာတွင် ဤသို့ ဆို ခြင်းဖြင့် အောင်ပွဲများသည် အာဇာနည်ပုဂ္ဂိုလ်တို့ကြောင့် ပေါ်ထွက်လာသည်ဟု အဓိပ္ပာယ် မထွက်ပါ။ စစ်ပွဲတစ်ပွဲ ၏ နိယာမတရားများသည် လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက် ၏ ပုဂ္ဂိုလ်ရေးရာ ဆောင်ရွက်ချက်များပေါ်တွင် အမှီသဟဲ ပြုနေသည်ဟု အဓိပ္ပာယ်မထွက်ပါ" ဟု လူ့ ဆင်ခြင်တုံ တရားက ဖြေကြားပေသည်။ ကျွန်ုပ်သည် နာရီကို ကြည့် လိုက်၍ နာရီလက်တံများ ဆယ်နာရီရောက်နေခြင်းကို တွေ့ရသည့်အခါတိုင်း အနီးရှိ သုဓမ္မာဇရပ်မှ ခေါင်းလောင်း သံများကို ကြားရတတ်၏။ သို့ရာတွင် နာရီလက်တံများ ဆယ်ဂဏန်းသို့ရောက်သောကြောင့် ခေါင်းလောင်းမြည်  သည်။ ခေါင်းလောင်းများ၏လှုပ်ရှားရိုက်ခတ်မှုသည် နာရီ လက်တံများ၏ လှုပ်ရှားမှုကြောင့် ဖြစ်ပေါ်ရသည်ဟုကား ယူဆ၍ မဖြစ်နိုင်ချေ။

မီးရထားခေါင်းတွဲတစ်ခု၏ ရွေ့လျားမှုကို မြင်ရ သည့်အခါတိုင်း ဥသြသံကို ကြားရမြဲဖြစ်၏။ မောင်းတံ များ လှုပ်ရှားခြင်း၊ ဘီးများ လည်ပတ်ခြင်းကို မြင်ရမြဲဖြစ်၏။ သို့ရာတွင် ဥသြမြည်ခြင်း၊ ဘီးများလည်ခြင်း ကြောင့် မီးရထားစက်ခေါင်း ရွေ့လျားရသည်ဟု ကောက် ချက်ဆွဲ၍ မဖြစ်နိုင်ချေ။

"ဝက်သစ်ချဖူး၊ ဤနွေဦး၊ လေရူးထတတ်သည်" ဟု လယ်သမားများ ဆိုစမှတ်ပြု၏။ ၎င်းတို့ပြောသည့် အတိုင်း နွေဦးဝက်သစ်ချဖူးချိန် ရောက်လျှင် လေရူးထ တတ်သည်မှာလည်း အမှန်ပင်ဖြစ်၏။ ဝက်သစ်ချဖူးတိုင်း အဘယ်ကြောင့် လေရူးထတတ်သည်ကို ကျွန်ုပ်မသိ သော်လည်း ဝက်သစ်ချဖူး ခြင်းသည် လေရူးတိုက်ခြင်း၏ အကြောင်းတရား ဖြစ်သည်ဆိုသော လယ်သမား ကြီးများ ၏အဆိုကိုမူ ကျွန်ုပ် လက်မခံနိုင်ချေ။ ဝက်သစ်ချဖူးခြင်း သည် လေတိုက် ခြင်းစွမ်းအားကို စိုးမိုးချုပ်ကိုင်နိုင်သော နိယာမတရား မဟုတ်ချေ။ ကျွန်ုပ်၏အမြင်၌ကား ထို အခြင်းအရာသည် လောက၌ဖြစ်တတ်သည့် ဓမ္မတာ၊ မတော်တဆတိုက်ဆိုင်ခြင်းသာဖြစ်သည်။ နာရီလက်တံ များကို လည်းကောင်း၊ ခေါင်းတွဲမှ ဘီးများနှင့် မောင်းတံ များကိုလည်းကောင်း၊ ဝက်သစ်ချပင်တို့၏သဘာဝကို လည်းကောင်း မည်မျှ နှိုက်နှိုက်ချွတ်ချွတ် လေ့လာစေကာ မူ ခေါင်းလောင်း မြည်ခြင်း၊ မီးရထားစက်ခေါင်း ရွေ့လျား ခြင်း၊ လေရူးတိုက်ခြင်းတို့၏ အကြောင်းတရားများကို ရှာတွေ့လိမ့်မည် မဟုတ်ချေ။ ၎င်းတို့ ဖြစ်ပေါ်ခြင်း၏ အကြောင်းတရားများကို သိရန်မှာ ကျွန်ုပ်တို့၏ရှုမြင်ချက် ကို လုံးဝပြောင်း၍ ရေနွေးငွေ့တွန်းကန်ခြင်း၏ နိယာမ များ၊ ခေါင်းလောင်းရိုက်ခြင်း၏ နိယာမများ၊ လေတိုက် ခတ်ခြင်း၏ နိယာမများကို လေ့လာရမည်ဖြစ်၏။ ရာဇဝင် ဆရာသည် လည်း ထို့အတူ လေ့လာရမည်ဖြစ်၏။ ဤသို့ လေ့လာအားထုတ်မှုများလည်း ပေါ်ပေါက်ခဲ့ပြီး ဖြစ်လေ သည်။

ရာဇဝင်၏နိယာမများကို လေ့လာသောအခါ၌ ကျွန်ုပ်တို့သည် သမားရိုးကျ လေ့လာနည်းများကို ပြောင်း ပြင် လဲပစ်ရပေလိမ့်မည်။ ဘုရင်ကေရာဇ်များ၊ ဝန်ကြီးများ၊ စစ်ဗိုလ်ချုပ်များကို ဘေးချိတ်၍ ရာဇဝင်လှုပ်ရှားမှုကြီး များ၏အကြောင်းတရားဖြစ်သော အတိုင်းမသိ သေးငယ် သောရုပ်ဒြပ်စင်များဖြစ် သည့် အညတရပြည်သူများ၏ လှုပ်ရှားမှုများကို လေ့လာရပေလိမ့်မည်။ ဤသို့

လေ့လာ ခြင်းဖြင့် ရာဇဝင်၏နိယာမများကို မည်သည့်အတိုင်းအတာ အထိ နားလည်နိုင်သည်ဟု အပ်ချမတ်ချ မပြောနိုင်သော် လည်း ရာဇဝင်နိယာမကို လေ့လာလိုလျှင် ထိုနည်းမှ လွဲ၍ အခြားနည်းမရှိသည်မှာကား ထင်ရှားလှပေသည်။ သို့ရာ တွင် ယခုအချိန်ထိကား ရာဇဝင်ဆရာများသည် ဘုရင် ဧကရာဇ်များ၊ ဝန်ကြီးများ၊ စစ်ဗိုလ်ချုပ်များ၏ ဆောင်ရွက် ချက်များကို လေ့လာခြင်း၊ ထို ဆောင်ရွက်ချက်များနှင့် စပ်လျဉ်း၍ ၎င်းတို့၏ထင်မြင်ယူဆချက်တို့ကို ဋီကာချဲ့ ကြ ခြင်းဖြင့်သာ အချိန်ကုန်လျက် ရှိကြ၏။ ပြည်သူလူထု၏ လှုပ်ရှားမှုအကြောင်းကိုကား ထိုအရာများ၏ အပုံတစ်သန်း ပုံလျှင် တစ်ပုံလောက်ကိုမျှ လေ့လာခြင်း မပြုကြချေ။

# အခန်း ၂

တစ်ဒါဇင်မျှသော ဥရောပနိုင်ငံများမှ စစ်တပ်များသည် ရုရှားနိုင်ငံတွင်းသို့ ချဉ်းနင်း ဝင်ရောက်ခဲ့ကြလေသည်။ ရုရှားစစ်တပ်နှင့် ပြည်သူများသည် ရန်သူတို့ စမိုးလင့်သို့ ရောက်သည်အထိ ထိပ်တိုက်တိုက်ခိုက်မှုများကို ရှောင်ကွင်း ခဲ့ကြသည်။ တစ်ဖန် စမိုးလင့်မှ ဘိုရိုဒီနိုအထိ ဆုတ်ပေး ခဲ့ကြသည်။ ပြင်သစ်စစ်တပ်ကြီးသည် ၎င်း၏ပန်းတိုင်ဖြစ် သော မော်စကိုမြို့သို့ တရကြမ်း ချီတက်လာခဲ့လေပြီ။ အမြင့်မှ ကျလာသော အရာဝတ္ထုတစ်ခုသည် မြေကြီးနှင့် နီးလာသည်နှင့်အမျှ အလျင်နှုန်းတိုး၍လာသကဲ့သို့ ပြင်သစ် စစ်တပ်ကြီးသည်လည်း ၎င်း၏ပန်းတိုင် မော်စကိုမြို့နှင့် နီးလာသည်နှင့်အမျှ အရှိန်ပြင်း၍ လာခဲ့လေပြီ။ ဤသို့ဖြင့် ပြင်သစ်စစ်တပ်ကြီးသည် အစာရေစာခေါင်းပါး၍ အန္တရာယ်များလှသော ရန်သူ့ နိုင်ငံတွင်းသို့ မိုင်ငါးရာခန့် ထိုး ဖောက်ဝင်လာခဲ့ပြီးနောက် မော်စကိုနှင့် မိုင်ဒါဇင် အနည်း ငယ်အကွာသို့ ရောက်လာခဲ့လေသည်။ နပိုလီယန်စစ်တပ် ကြီးထဲရှိ

တပ်သားတိုင်းသည် ဤအချက်ကို သိရှိကြလေ ၏။ သို့သော်လည်း ပြင်သစ် စစ်တပ်ကြီး၏ ရွေ့လျားမှု သည် အရှိန်မကုန်သေးသည့်အလျောက် ရှေ့သို့ ဆက်လက် လှုပ်ရှားလျက်သာ ရှိလေသည်။

ရုရှားတပ်များသည် နောက်သို့ ဆုတ်ခွာပေးခဲ့ရ သည်နှင့် အမျှ ရန်သူကို ခါးခါးသီးသီး မုန်းတီးသောစိတ် ဓာတ်သည် ၎င်းတို့၏ရင်ထဲ၌ အလျှံညီးညီး တောက်လောင် လာခဲ့လေပြီ။ ဆုတ်ခွာလျက်ရှိစဉ်၌ ရုရှားစစ်တပ်ကြီး၏ အင်အား သည် ကြီးမားသည်ထက် ကြီးမားကာ သိပ် ( သည်းသည်ထက် သိပ်သည်းလာခဲ့ လေပြီ။ ဘိုရိုဒီနိုသို့ ရောက်သော် အရှိန်ဖြင့် ချီတက်လာသော ပြင်သစ်စစ်တပ် ကြီး နှင့် ထုထည်သိပ်သည်းသော ရုရှားစစ်တပ်ကြီးတို့ ' သည် ထိပ်ချင်းဆောင့်မိကြ၏။ မည်သည့်စစ်တပ်မှ ကျိုးပဲ့ ပျက်စီးသွားခြင်း မရှိခဲ့ချေ။ သို့ရာတွင် ဘောလုံးကြီး တစ်လုံးသည် ၎င်းထက် အရှိန်ပြင်းထန်သည့် အခြား ဘောလုံးကြီးတစ်လုံးနှင့် တိုက်မိသည်၌ နောက်သို့ တုံ့၍ လွင့်စဉ်လာသည့်နည်းတူ ရုရှားစစ်တပ်ကြီးသည် ပြင်သစ် စစ်တပ်ကြီးနှင့် ထိပ်ချင်းဆောင့်မိပြီးသည့်နောက်၌ နောက် သို့ လွင့်စဉ် လာခဲ့လေသည်။ အရှိန်ပြင်းစွာဖြင့် ဝင်ရောက် တိုက်ခိုက်သည့် အခြားဘောလုံး ကြီးသည် ရှေ့ခပ်ဝေးဝေး အထိ အရှိန်ဖြင့် လိမ့်၍လာသည့်နည်းတူ ပြင်သစ် စစ်တပ် ကြီးသည်လည်း ခပ်ဝေးဝေးအထိ အရှိန်ဖြင့်လိမ့်လာခဲ့လေ သည်။ သို့ရာတွင် ပြင်းထန်သောအရှိန်ဖြင့် လာခဲ့စဉ်လမ်း တွင် အခြားဘောလုံးတစ်လုံး နှင့် တိုက်မိသောကြောင့် အရှိန်လျော့သွားခဲ့လေပြီ။

ရုရှားတို့သည် မော်စကိုမြို့အလွန် မိုင်ရှစ်ဆယ် ကွာအထိ ဆုတ်ပေးခဲ့ကြ ရ၏။ ပြင်သစ်တပ်များမှာကား မော်စကိုအထိ ရောက်လာခဲ့ကြပြီးနောက် အရှိန်သေကာ တန့်သွားခဲ့ကြလေပြီ။ ထို့နောက် ရက်သတ္တငါးပတ်ကြာ တိုက်ပွဲ တစ်ပွဲမျှ ဖြစ်ပွားခြင်း မရှိတော့ချေ။ ပြင်သစ်စစ် တပ်ကြီးသည် လှုပ်ရှားခြင်းမရှိ တော့ချေ။ ကြီးစွာဒဏ်ရာ ရ၍ သွေးဒလဟောယိုစီးလျက်ရှိသော တိရစ္ဆာန်ကြီး

တစ် ကောင်သည် ၎င်း၏ဒဏ်ရာကို လျှာဖြင့်လျက်ကာ ငြိမ် သက်စွာဝပ်လျက်ရှိ သကဲ့သို့ ပြင်သစ်စစ်တပ်ကြီးသည် လည်း မော်စကိုမြို့တွင် ရက်သတ္တငါးပတ်မျှ ငြိမ်သက်သွား ခဲ့လေပြီ။ ထို့နောက်၌ကား ပြင်သစ်စစ်တပ်ကြီးသည် အကြောင်း တစ်စုံတစ်ရာမရှိဘဲ မော်စကိုမှ ရုတ်တရက် ဆုတ်ခွာထွက်ပြေးလေတော့သည်။ ပြင်သစ်စစ်တပ်များ သည် ကာလူဂါ ပေတစ်ရာလမ်းမကြီးတစ်လျှောက် တစ် ဟုန် ထိုး ထွက်ပြေးကာ (မာလိုယာရိုစလာဗက်ဒေသတွင် တိုက်ပွဲတစ်ပွဲ ဖြစ်ပွားပြီး နောက်) နောက်ထပ်ပြင်းပြင်းထန် ထန် တိုက်ပွဲဆင်ခြင်း မပြုတော့ဘဲ စမိုးလင့်သို့ အရောက် ဆုတ်ခွာထွက်ပြေးခဲ့လေသည်။ စမိုးလင့်မှ ဘီရဲဇီနာ၊ ဘီရဲဇီနာမှ ဝီလ နာ၊ ဝီလနာမှ ရှေ့သို့ တရကြမ်းထွက် ပြေးခဲ့လေသည်။

ဘိုရိုဒီနိုတိုက်ပွဲသည် ဩဂုတ်လ ၂၅-ရက်နေ့တွင် ဖြစ်ပွား၏။

ဩဂုတ်လ ၂၆-ရက်နေ့ ညနေ၌ကား ဘိုရိုဒီနို တိုက်ပွဲသည် မိမိတို့ အောင်ပွဲ ဖြစ်ကြောင်း စစ်သေနာပတိ ချုပ်ကူတူဇော့ဗ်နှင့် ရုရှားစစ်တပ်ကြီးတစ်ခုလုံးက သဘော ပေါက်လာခဲ့ကြ၏။ စစ်သေနာပတိချုပ်သည် ထိုအတိုင်း ပင် ဘုရင်ထံ အစီရင်ခံခဲ့သည်။ ထို့မျှမက ရန်သူကို အပြီး သတ်ချေမှုန်းရေးအတွက် နောက်ထပ် တိုက်ပွဲတစ်ပွဲဆင်နွှဲ ရန် အဆင်သင့်ရှိကြရမည်ဟုလည်း တပ်သားများသို့ အမိန့် ထုတ်လိုက်၏။ ဤအစီအစဉ်သည် တပ်သားများ၏ စိတ်ဓာတ်ကို မြှင့်တင်ရန် ပရိယာယ်သုံးခြင်း မဟုတ်ချေ။ ဤအချိန်သည် ရန်သူတို့ ပင်ပန်းချိန်၊ ရန်သူကို အလဲထိုး ရန် အကောင်းဆုံးအချိန်ဟု ယုံကြည်သောကြောင့် ထိုအစီ အစဉ်ကို ပြုလုပ်ခြင်းဖြစ်လေသည်။ တပ်မတော်ကြီးတစ်ခု လုံးကလည်း ဤသို့ ယုံကြည် လျက် ရှိလေသည်။

သို့ရာတွင် ထိုနေ့ညနေပိုင်းနှင့် နောက်တစ်နေ့၌ ရုရှားတို့ အထိအရှ အကျ အနာများကြောင်း၊ ရုရှားစစ်တပ် ကြီး၏ တစ်ဝက်ကျေမျှ ပြုတ်ပြုတ်ပြုန်းခဲ့

ကြောင်း အစီ ရင်ခံစာများ တစ်ခုပြီး တစ်ခု ရောက်ရှိလာခဲ့သည်။ ထို့ ကြောင့် ရင်ဆိုင်တိုက်ပွဲ ဆင်နွှဲခြင်းမပြုနိုင်တော့ပြီ။ ရုရှား စစ်တပ်ကြီး၏ ရုပ်အခြေအနေ သည် တိုက်ပွဲသစ် တိုက်ရန် ခွင့်မပြုတော့ပြီ။

နောက်ထပ် တိုက်ပွဲသစ်တစ်ရပ် ဆင်နွှဲရန်အတွက် သတင်းများ စုဆောင်း ခြင်း၊ ဒဏ်ရာရသူများကို ရွှေ့ပြောင်း ခြင်း၊ လက်နက်ခဲယမ်းမီးကျောက်ဖြည့်တင်း ခြင်း၊ ကျဆုံး သူများကို စာရင်းကောက်ခြင်း၊ ကျဆုံးသည့် တပ်ဗိုလ်များ နေရာ၌ ဗိုလ်သစ်များ အစားထိုးခန့်အပ်ခြင်း၊ တပ်သား များအား အစားအစာ ဝလင်စွာစား စေခြင်း၊ အိပ်စက် နားနေခွင့်ပြုခြင်း စသည်တို့ကို ပြုလုပ်ရဦးမည် ဖြစ်၏။ ထို အရာများကို မပြုလုပ်ဘဲ နောက်ထပ် ထိုးစစ်တစ်ခု ဆင်နွှဲ၍ မဖြစ်ချေ။ ထိုသို့ရှိစဉ် ပြင်သစ်စစ်တပ်ကြီးသည် ၎င်း၏အရှိန်ကို မသတ်နိုင်သေးဘဲ နောက်တစ်နေ့ လင်း အားကြီးတွင် ရုရှားစစ်တပ်ကြီးကို အဟုန်ပြင်းစွာဖြင့် တိုက်ခိုက်ခြင်း ပြုပြန်သည်။ ထိုအချိန်၌ကား ပြင်သစ်စစ် တပ်ကြီး၏ ရွေ့လျားမှုအရှိန်အဟုန်သည် ပြင်းသည် ထက် ပြင်းလာခဲ့လေပြီ။ အရာဝတ္ထုနှစ်ခုအနက် တစ်ခုစီ၏ ဆွဲ ငင်ခြင်းအားသည် ထိုအရာဝတ္ထုနှစ်ခု အကွာအဝေး၏ ပြောင်းပြန်အချိုးကို လိုက်၍ ကွဲပြားကြသည် ဟူသော ရူပဗေဒနိယာမအတိုင်း ဖြစ်ပေါ်သကဲ့သို့ ပြင်သစ်စစ်တပ် ကြီးသည် လည်း ၎င်း၏မှန်းချက်ဖြစ်သော မော်စကိုမြို့နှင့် နီးလာသည်နှင့်အမျှ အရှိန် ပြင်း၍လာခဲ့လေပြီ။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်၏ဆန္ဒမှာ နောက်တစ်နေ့ တွင် ထိုး စစ်ဆင်ရန် ဖြစ်၏။ တပ်မတော်ကြီး တစ်ခုလုံးကလည်း ဤအတိုင်း ဆန္ဒ ရှိ၏။ သို့ရာတွင် ထိုးစစ်တစ်ခု ဆင်ရေး ကိစ္စသည် ဆန္ဒရှိရုံဖြင့် မလုံလောက်ချေ။ ထိုးစစ်ဆင် နိုင်သောရုပ်အခြေအနေများ ရှိရဦးမည် ဖြစ်၏။ ယခု ရုရှားစစ်တပ် ကြီး၌ ထိုသို့သော ရုပ်အခြေအနေများ မရှိ ချေ။ ရုရှားစစ်တပ်ကြီး၏ ရုပ် အခြေအနေသည် တစ်ရက် ပြီး တစ်ရက် ဆုတ်ခွာပေးရမည့် အခြေအနေမျိုးသာ ဖြစ် ၏။ ရုရှားစစ်တပ်ကြီးသည် တစ်ဆုတ်တည်း ဆုတ်လာခဲ့ ရ၏။ သို့ဖြင့်

စက်တင်ဘာလ ၁-ရက်နေ့ မော်စကိုမြို့ အနီးသို့ ရောက်သည့်အခါ၌ကား (ရုရှား စစ်တပ်၏ စိတ် ဓာတ်အခြေအနေ ကောင်းမွန်လျက်ရှိစေကာမူ) မော်စကိုမှ မ ဆုတ်လျှင် မဖြစ်တော့သည့်အခြေသို့ ရောက်လာခဲ့လေ သည်။ ဤသို့ဖြင့် ရုရှား တပ်ကြီးသည် တစ်ဆုတ်တည်း ဆုတ်လာခဲ့ရပြီးသည်၏အဆုံး၌ မော်စကိုမြို့ကို ရန်သူ လက်သို့ ထိုးအပ်ခဲ့ကြလေသည်။

တိုက်ပွဲစဉ်များနှင့် စစ်ဆင်ရေးစီမံကိန်းများကို ဗိုလ်ချုပ်ကြီးများက ရေးဆွဲ သည်ဟု ထင်ကြသူများအဖို့ ကား စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် ဤသို့ ဤ နှယ် စစ်ဆုတ်ခြင်းပြုရာသလော၊ ဖီလီဒေသသို့မရောက်မီ ခံစစ် မပြုရာသလော။ မော်စကိုကို စွန့်ခွာပြီးနောက် ကာလူဂါ ပေတစ်ရာအတိုင်း ချက်ချင်းဆုတ်ခွာခြင်း မပြုရာသလော စသည်ဖြင့် ဝေဖန်ပြောဆိုကြ၏။ (စားပွဲတွင် ထိုင်၍ မြေပုံကို ဖြန့် ကာ ထိုတိုက်ပွဲ ဤတိုက်ပွဲ၌ ငါသာ ကွပ်ကဲ  လိုက်ရလျှင် မည်သို့ရှိမည်ဟု စိတ်ကူး ဖဲရိုက်ခြင်းမျိုးကို ကား လူတိုင်း လုပ်တတ်ပါသည်။) စင်စစ်၌ကား ဤသို့ ဝေဖန် သူများသည် စစ်သေနာပတိချုပ်တစ်ဦး၏ ရှောင်လွှဲ မရသော အခက်အခဲများ၊ အကျပ်အတည်းများကို မေ့လျော့ နေသူများသော်လည်းကောင်း၊ မသိနားမလည် သူများသော် လည်းကောင်း ဖြစ်တန်ရာသည်။ စစ်မြေပြင်တွင် လက် တွေ့ လုပ်ဆောင်နေရသည့် စစ်သေနာပတိချုပ်တစ်ဦးနှင့် ညှော့ခန်းတွင် ဖိမ်ဖြင့် ထိုင် ကာ မြေပုံကို ထောက်၍ စစ် ဆင်ရသူတစ်ဦးတို့သည် အခြေအနေချင်း မတူကြ ချေ။ စားပွဲတွင် ဖိမ်ဖြင့်ထိုင်ကာ မြေပုံကိုထောက်၍ စစ်ဆင် ရခြင်းမျိုးကား ငှက်ပျောသီး အခွံနွှာစားခြင်းလောက်မျှ ခက်ခဲသောအလုပ် မဟုတ်ချေ။ ဤ ဘက်၌ တပ်သား မည်မျှရှိသည်၊ ထိုဘက်၌ တပ်သား မည်မျှရှိသည်၊ ဤရွေ့ ဤမျှ သောအင်အားဖြင့် ဤနယ်မြေဒေသကို ဤအချိန် ဤကာလအတွင်း ဤသို့ ဤ နှယ် တိုက်ခိုက်မည်စသဖြင့် လွယ်လွယ်တွေးကာ လွယ်လွယ်ဖြင့် စစ်ဆေးခြင်း ပြု နိုင် ပေသည်။ သို့ရာတွင် စစ်မြေပြင်၌ လက်တွေ့ဆောင်ရွက် နေရသည့်

စစ်သေနာပတိချုပ်တစ်ဦးအဖို့ကား ထိုသို့ ပုံသေကားကျ မှတ်ထား၍ မရချေ။ ကျွန်ုပ်တို့ထင်သကဲ့သို့ ပုံသေကားကျအခြေအနေမျိုးနှင့် ကြုံတွေ့နေရခြင်း မဟုတ် ချေ။ စစ်မြေပြင်၌ လက်တွေ့ လုပ်ရသည့် စစ်သေနာပတိ ချုပ်တစ်ဦး သည် လျင်မြန်စွာပြောင်းလဲလျက်ရှိသော အဖြစ် အပျက်များနှင့် နဖူးတွေ့ ဒူးတွေ့ ရင်ဆိုင် နေရသည့် အလျောက်၊ အဖြစ်အပျက်တစ်ခုလုံး၏ အတိမ်အနက်ကို သေချာစွာစဉ်းစားနေချိန် မရချေ။ စစ်မြေပြင်၌ အဖြစ် အပျက်များသည် စက္ကန့်နှင့် အမျှ မိနစ်နှင့်အမျှ ပြောင်းလဲ လျက်ရှိကြ၍ ထိုသို့ပြောင်းလဲနေချိန်၌လည်း ၎င်း၏ပတ် ဝန်းကျင်တွင် တစ်ဦးကို တစ်ဦး အကောက်ကြံမှုများ၊ ကုန်းချောမှုများ၊ ခြိမ်းခြောက်မှုများ၊ အာဏာဖြင့် စေခိုင်းမှု များ၊ အကျပ်အတည်းများ၊ စိတ်နောက်ကျဖွယ်များ စသည်တို့ ဝန်းရံနေတတ်သေးသည်။ ထိုမျှမက မိမိထံသို့ ရောက်လာသော ပြဿနာပေါင်းသောင်းခြောက်ထောင်ကို လည်း ဒိုင်ခံဖြေရှင်းပေးရသေး သည်။

စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် ၎င်း၏စစ် တပ်ကြီးကို ကာလူဂါပေ တစ်ရာအတိုင်း ဖီလီဒေသသို့ ဆုတ်ခွာစေသင့်ကြောင်းဖြင့် နှောင်းခေတ်ပညာရှိ စစ်ပါရဂူ  များက အလေးအနက်ဝေဖန်ခဲ့ကြ၏။ ထိုသို့ ဆုတ်ခွာခြင်း ပြုရန် ဗိုလ်ချုပ်တစ်ဦးက အကြံပေးခဲ့ခြင်းကို ပယ်ချခဲ့ရာ သလောဟု ပြစ်တင်ခဲ့ကြ၏။ သို့ရာတွင် ဤသို့သော အကြံပေးချက်မျိုးမှာ တစ်ခုတည်းမဟုတ်ဘဲ တစ်ပြုံတစ် ခေါင်းကြီး ရှိတတ်လေသည်။ အထူးသဖြင့်အကျပ်အတည်း ကာလမျိုး၌ ဒါဇင် ပေါင်းများစွာ ရှိတတ်လေသည်။ ၎င်းတို့ အားလုံးမှာလည်း သေနင်္ဂဗျူဟာများ၊ နည်းပရိယာယ်များ ကို အခြေခံ၍ တင်ပြကြသည်ချည်း ဖြစ်ရုံမျှမက တစ်ခု နှင့် တစ်ခု ဆန့်ကျင် ကွဲလွဲနေတတ်ကြသေးသည်။ ထို အခါ မျိုး၌ မည်သည့် အကြံပေးချက်ကို လက်ခံရမည်ဆို သည့်ကိစ္စများမှာ ပြောသလောက် မလွယ်ချေ။

စစ်သေနာပတိချုပ်တစ်ဦး၏ အလုပ်သည် ထိုအကြံ ပေးချက်များ စီမံကိန်းများအနက် ကောင်းနိုးရာရာ တစ်ခု ကို ရွေးချယ်လိုက်ရုံသာရှိသည်ဟု ထင်ဖွယ်ရှိ၏။ သို့ရာ တွင် လက်တွေ့၌ကား ဤအလုပ်ကို လုပ်ရန်ပင် မလွယ် လှချေ။ အဖြစ်အပျက်များနှင့် အချိန်က စောင့်ဆိုင်းနေ သည် မဟုတ်ချေ။ ဥပမာအားဖြင့် ကာလူဂါ ပေတစ်ရာ လမ်းမကြီးအတိုင်း ဆုတ်ခွာရန် အကြံပေးချက်ကို ဩဂုတ် လ ၂၈-ရက်နေ့က စစ်သေနာပတိချုပ်ထံ တင်ပြခဲ့၏။ ထိုအတောအတွင်း ဗိုလ်ချုပ်မီလိုရာဒိုဗစ်ချ်ထံမှ တပ်ရေး တစ်ယောက်သည် မြင်းဖြင့်ဒုန်းစီးရောက်လာကာ ပြင်သစ် တပ်များကို ခံတိုက်ရမည်လော၊ ဆုတ်ခွာရမည်လောဟု အမိန့်တောင်းလာ၏။ စစ်သေနာပတိချုပ်သည် ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်အား ချက်ချင်း အမိန့်ပေးရတော့မည် ဖြစ် ၏။ ဆိုင်းငံ့ထား၍ မရချေ။ သို့ဖြင့် စစ်သေနာပတိချုပ် သည် ဗိုလ်ချုပ်မီလိုရာဒိုဗစ်ချ်အား အမိန့်တစ်ခု ထုတ်ပေး လိုက်ရ၏။ ထိုသည်နှင့် တစ်ပြိုင်နက် ကာလူဂါပေတစ်ရာ ဘက်သို့ ဆုတ်ခွာရေးကိစ္စမှာ ခေါင်းထဲမှ အလိုလိုပျောက် သွားခဲ့ရလေပြီ။ ဗိုလ်ချုပ်မီလိုရာဒိုဗစ်ချ်၏တပ်ရေး ပြန် သွားပြီးနောက် မကြာမီ တပ်ထောက်ချုပ်ရောက်လာကာ ရိက္ခာပစ္စည်းများကို မည်သည့် နေရာသို့ ပြောင်းရွှေ့ထား ရမည်နည်းဟု အမိန့်တောင်းလာပြန်သည်။ တစ်ဖန် ဆေးတပ်ချုပ်ရောက်လာကာ ဒဏ်ရာရသူများကို မည်သည့် နေရာသို့ ရွှေ့ထားရမည်နည်းဟု မေးလာပြန်သည်။

တစ်ဖန် ပီတာစဘတ်ရွှေနန်းတော်ကြီးမှ မင်းချင်းလုလင် တစ်ဦး ရောက်လာပြန်ကာ မိမိတို့တပ်များကို မော်စကိုမြို့မှ  တပ်စွဲ ခုခံစေလိုသောဆန္ဒ ရှိကြောင်းဖြင့် ပါရှိသောဘုန်း တော်ကြီးသောဘုရား ၏ အမိန့်တော်ပြန်တမ်းကို ပေးလာ ပြန်သည်။ ထိုအတောအတွင်း စစ်သေနာပတိချုပ်အား အကောက်ကြံလျက်ရှိသော ပြိုင်ဘက်ဗိုလ်ချုပ်ကလည်း (ဤသို့သောပြိုင်ဘက်များမှာလည်း တစ်ယောက်တည်း မကပါ။ များစွာရှိပါသည်။) ကာလူဂါ ပေတစ်ရာလမ်းမ ကြီး

အတိုင်း ဆုတ်ခွာရေး စီမံကိန်းနှင့် လုံးဝဆန့်ကျင် ခြားနားသော စီမံကိန်းသစ် တစ်ရပ်ကို တင်ပြပြန်သည်။ ထိုအချိန်၌ကား စစ်သေနာပတိချုပ်မှာ များစွာပင် ပန်းနွမ်း နယ်ခဲ့လေပြီ။ သို့ရာတွင် အနားမယူနိုင်သေးချေ။ ဗိုလ်ချုပ် တစ်ဦး ပေါက် လာပြန်ကာ ဆုတံဆိပ်တော်များ ရသင့်ပြီ ဖြစ်ပါလျက် ယခုတိုင် မရသေးကြောင်း ဖြင့် တိုင်တန်း ပြန်သည်။ ထိုစဉ် ရွာလူကြီးများ ပေါက်လာကာ ၎င်းတို့ ၏ နယ် လုံခြုံရေးကိစ္စကို လာရောက် ပြောဆိုပြန် သည်။ ၎င်းတို့ပြန်သွားလျှင် နယ်မြေ ဒေသအခြေအနေကို စစ်ဆေး ကြည့်ရှုရန် လွှတ်ထားသော ဗိုလ်ချုပ်တစ်ဦး ပြန် ရောက် လာကာ အခြေအနေကို အစီရင်ခံခြင်း ပြုပြန်သည်။ ၎င်း၏ အစီရင်ခံချက် မှာလည်း ခပ်စောစောက စေလွှတ်ထားသော တပ်ဗိုလ်၏အစီရင်ခံချက်နှင့် ကွဲလွဲ နေ ပြန်သည်။ ထိုတပ် ဗိုလ်ပြီးလျှင် သူလျှိုတစ်ဦး၊ သံ့ရတစ်ဦး၊ ကင်းထောက် စေလွှတ်ထားသော ဗိုလ်ချုပ်တစ်ဦး စသဖြင့် တစ်ယောက် ပြီးတစ်ယောက် လက်ခံတွေ့ဆုံကာ ရန်သူတပ်၏ အခြေ အနေကို မေးမြန်းစုံစမ်းခြင်း ပြုရ ပြန်သည်။ ၎င်းတို့၏ အစီရင်ခံချက်မှာလည်း တစ်ယောက်တစ်မျိုးစီကွဲပြားလျက် ရှိပြန်သည်။ ဤကား လက်တွေ့လုပ်ရသည့် စစ်သေနာပတိ ချုပ်တစ်ဦးအဖို့ မလွဲမသွေ တွေ့ရသော အခက်အခဲ များ ဖြစ်ကြရာ ဤအချက်တို့ကို နားမလည် သူ သို့မဟုတ် ထည့်သွင်းစဉ်းစားခြင်း မပြုကြသူများသာလျှင် စစ်သေနာ ပတိချုပ် ကို လွယ်လွယ်နှင့် အပြစ်ဖို့ကြမည် ဖြစ်ပါသည်။ ဥပမာအားဖြင့် ၎င်းတို့က ဖီလီ ဒေသတွင် ရောက်ရှိနေသော တပ်များ၏ အခြေအနေကို ထောက်ပြကာ စစ်သေနာပတိ ချုပ်သည် မော်စကိုမှ ခုခံမည်လော၊ မော်စကို မှဆုတ်ခွာ မည် လောဆိုသည့်ကိစ္စကို လွတ်လပ်စွာ ဆုံးဖြတ်သင့်သည် ဟု ဝေဖန်ခဲ့ကြ၏။ သို့ရာတွင် ၎င်းတို့ပြောသည့် အချိန်၌ ပြင်သစ်စစ်တပ်ကြီးသည် မော်စကိုနှင့် လေး မိုင်မျှပင်မဝေး တော့ပြီ။ ထိုအချိန်၌ မော်စကိုမှ ခုခံမည်လော၊ ဆုတ်မည် လော ဆိုသည့်ပြဿနာသည် မရှိတော့ပြီ။ ထိုပြဿနာသည် ( အဖြေထွက်ပြီးသား ဖြစ်ခဲ့ လေပြီ။ ကောင်းပြီ။ သို့ဖြစ်လျှင် မော်စကိုမှ ခံရေး ဆုတ်ခွာရေးပြဿနာသည် မည်

သည့် အချိန်က အဖြေထွက်ခဲ့သနည်းဟု မေးဖွယ်ရှိ၏။ ရှင်းပါ သည်။ အူတစ်ဇာမှ ဆုတ်ခွာခဲ့ရချိန်ကတည်းက အဖြေ ထွက်ပြီးသား ဖြစ်ပါသည်။ စမိုးလင့်မှ ဆုတ်ခွာရ ကတည်း က အဖြေထွက်ပြီးသား ဖြစ်ပါသည်။ တိကျစွာ ပြောရလျှင် ဩဂုတ်လ ၂၄- ရက်နေ့ ရှီဗာဒီနိုတိုက်ပွဲ ဖြစ်ပွားချိန်၊ ဩဂုတ်လ ၂၆-ရက်နေ့ ဘိုရိုဒီနိုတိုက်ပွဲ ဖြစ်ပွားချိန် ကတည်းက အဖြေထွက်ပြီးသား ဖြစ်ပါသည်။ ထိုထက်ပို၍ တိကျစွာ ဆိုရလျှင်မူကား ဘိုရိုဒီနိုမှ ဖီလီသို့ ဆုတ်ခွာခဲ့ ရသောနေ့၊ ဆုတ်ခွာခဲ့ရသော နာရီပိုင်း၊ ဆုတ်ခွာခဲ့ရသော မိနစ်ပိုင်းကတည်းက အဖြေထွက်ပြီးသား ဖြစ်ပါသတည်း။

# အခန်း ၃

ဗိုလ်ချုပ်အာမိုလော့ဗ်သည် စစ်သေနာပတိချုပ်ကူတူဇောဝ် ၏အမိန့်အရ မြေပြင်အနေအထားကို စစ်ဆေးကြည့်ရှုခဲ့ ပြီးနောက် မိမိတို့အဖို့ မော်စကိုမှ ခုခံ၍ ဖြစ်နိုင်မည် မဟုတ်ကြောင်း၊ ဆက်လက်ဆုတ်ခွာရမည်သာဖြစ်ကြောင်း ဖြင့် စစ်သေနာပတိချုပ်ထံ အစီရင်ခံလျက် ရှိလေသည်။ စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် မိမိထံ အစီရင်ခံ လျက်ရှိသော ဗိုလ်ချုပ် အာမိုလော့ဗ်ကို တိတ်ဆိတ်စွာ ကြည့်လျက် ရှိ၏။

"မှန်းစမ်း၊ သွေးသောက်ကြီးလက်" စစ်သေနာ ပတိချုပ်ကူတူဇော့ဗ်သည် ဗိုလ်ချုပ်အာမိုလော့ဗ်၏လက်ကို ကိုင်၍ သွေးစမ်းဟန် ပြု၏။ "အိမ်း၊ သွေးသောက်ကြီး ကောင်းကောင်းကျန်းမာပုံ မရဘူးဗျ။ ကိုယ်ပြောတဲ့ စကား ကိုလဲ ကိုယ့်ဘာသာကိုယ် ပြန်စဉ်းစားဦး"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် မော်စကိုမှ အခုအခံမရှိဘဲ ဆုတ်ခွာရမည်ဆိုခြင်းကို သဘောမတူနိုင် သေးချေ။

မော်စကိုမြို့ ဒိုဂိုမီလော့တံခါးမှ လေးမိုင်ကွာသော ပေါက္ကလုနီတောင်ကုန်းသို့ ရောက်လျှင် စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်သည် ကရထားမှဆင်း၍ လမ်းဘေးရှိ ခုံတန်းလျားတစ်ခုပေါ်တွင် ထိုင်လိုက်၏။ စစ်ဗိုလ်ချုပ်များ စာအုပ်တိုက် သည် ၎င်းတို့အနီးတွင် ဝိုင်းအုံလျက် ရှိကြလေသည်။ ခဏကြာသော် မော်စကိုမြို့ထဲမှ ထွက်လာသော မော်စကို မြို့ဝန် မြို့စားကြီး ရော့စတော့ချင်လည်း ရောက်လာလေ သည်။ စစ်ဗိုလ်ချုပ်များသည် ကိုယ့်အစုကလေးနှင့် ကိုယ် ဝိုင်းဖွဲ့ကာ မြေပြင်အနေအထားကို လည်းကောင်း၊ တပ် မတော်၏အခြေအနေကို လည်းကောင်း၊ တင်ပြထားသော စစ်ဆင်မှု စီမံကိန်းများကို လည်းကောင်း၊ မော်စကိုမြို့၏ အခြေအနေကိုလည်းကောင်း၊ စစ်ရေးစစ်ရာကိစ္စများကို လည်းကောင်း ဆွေးနွေးပြောဆိုလျက် ရှိကြလေသည်။ ထိုစစ်ဗိုလ်ချုပ်များသည် ရည်ရွယ်ချက်မရှိဘဲ စစ်သေနာ ပတိချုပ်၏ အနီးတွင် လာရောက်စုဝေးမိကြခြင်း ဖြစ်သော် လည်း ၎င်းတို့အားလုံး၏စိတ်တွင်မူကား ယခုကဲ့သို့ လာ ရောက်စုဝေးခြင်းမှာ စစ်ဦးစီးဌာနချုပ်၏ အရေးပေါ်အစည်း အဝေးတစ်ရပ်ကဲ့သို့ ထင်မှတ်လျက် ရှိကြ၏။ ၎င်းတို့ အားလုံးသည် စစ်ရေးစစ်ရာများ၊ တိုင်းရေးပြည်ရေးကိစ္စ များကိုသာ ပြောဆိုလျက်ရှိကြသည်။ ပုဂ္ဂိုလ်ရေးရာကိစ္စများ သို့ မတော်တဆ စကားစပ်မိသွားလျှင်လည်း လေသံ ကလေးဖြင့် ခေတ္တမျှသာပြောဆိုကြကာ ချက်ချင်း စကား ဖြတ်၍ တိုင်းရေးပြည်ရေးကိစ္စများသို့ ပြန်ရောက်သွား ကြ သည်။ တစ်ဦးနှင့်တစ်ဦး နောက်ပြောင်ကျီစယ်ခြင်း၊ ရယ်မောခြင်း၊ ပြုံးရယ် နှုတ်ဆက်ခြင်းဟူ၍လည်း မရှိကြချေ။ ၎င်းတို့အားလုံးသည် အရေးကြီးလျက်ရှိသော အခြေအနေနှင့် လိုက်လျောအောင် တမင်အားထုတ်၍ ဣနေ့ဆောင်နေကြဟန် ရှိသည်။ ၎င်းတို့အားလုံးသည် အချင်းချင်းစကားပြောနေကြရာမှ (အလယ်တွင် ခုံရှည် ဖြင့် ထိုင်လျက်ရှိသော) စစ်သေနာပတိချုပ်နှင့် သူ့ထက်ငါ နီးနိုင်သမျှ နီးအောင် တိုးဝှေ့ကာ သူတို့ပြောသမျှစကား ကို မကြားကြားအောင်ပြောဆိုလျက်ရှိကြသည်။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် အနီးရှိဗိုလ်ချုပ်များ ပြောဆိုနေ ကြသည်ကို နားထောင်နေရာမှ

တစ်ချက်တစ်ချက်တွင် မသဲကွဲသောစကားများကို ထပ်မံ မေးမြန်းတတ်သည်။ သို့ရာတွင် ကိုယ်တိုင်မူကား ဝင်ရောက်ပြောဆိုခြင်း မပြု ချေ။ ထင်မြင်ချက်ပေးခြင်းလည်း မရှိချေ။ မိမိအနီးရှိ တစ်ယောက်တစ်ပေါက် ပြောဆိုလျက်ရှိကြသော စစ်ဗိုလ် ချုပ်များ၏ စကားများကို နားထောင်ပြီးသည့်နောက်၌ ၎င်းတို့ပြောဆိုလျက်ရှိသော စကားများထဲတွင် မိမိနား ထောင်လိုသော အကြောင်းအရာမပါသကဲ့သို့ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် စိတ်ပျက်သောအမူအရာဖြင့် တစ်ဖက်သို့ လှည့်သွားတတ်သည်။ စစ်ဗိုလ်ချုပ်အချို့သည် မိမိတို့တပ်များ တပ်စွဲရန်အတွက် ရွေးချယ်ထားသော မြေပြင်အနေအထားအကြောင်းကို ဆွေးနွေးလျက် ရှိကြ သည်။ သို့ရာတွင် မြေပြင်အနေအထားကို ဝေဖန်ခြင်းထက် ထိုမြေပြင်အနေအထားကို ရွေးချယ်သူအား ဝေဖန်ကြခြင်း သာဖြစ်သည်။ အချို့ကမူကား မိမိတို့တပ်များသည် ယခု ကဲ့သို့ ဆုတ်ခွာဖို့မသင့်ကြောင်း၊ ရန်သူတို့၏ ထိုးစစ်ကို လွန်ခဲ့သောနှစ်ရက်ခန့်ကပင် ပြင်းပြင်းထန်ထန် ခုခံခဲ့သင့် ကြောင်း၊ ယင်းသို့ မခုခံခဲ့ခြင်းမှာ မိမိတို့အမှားပင် ဖြစ် ကြောင်းဖြင့် ငြင်းခုံလျက်ရှိသည်။ အချို့ စစ်ဗိုလ်ချုပ်များ မှာ စပိန်စစ်ဗိုလ်ချုပ်ဝတ်စုံကို ဝတ်ထားသည့် ပြင်သစ်လူမျိုး ဗိုလ်ချုပ်ကရိုဆတ်က ဆာလာမန်ကာတိုက်ပွဲ အကြောင်း ပြောပြနေသည်ကို နားထောင်လျက် ရှိ၏။ (ရုရှားတပ်မတော်တွင် အမှုထမ်းလျက်ရှိသော ပြင်သစ်ဗိုလ်ချုပ် ကရိုဆက်နှင့် ဂျာမန်မင်းသားတစ်ဦးတို့သည် ဆာရာဂိုဆာမြို့သိမ်းတိုက်ပွဲအကြောင်းကို ပြောဆိုကာ မော်စကိုမြို့ကိုလည်း အလားတူ ရန်သူလက်မှ ကာကွယ် လျှင် ဖြစ်နိုင်ကြောင်းဖြင့် ပြောဆိုလျက် ရှိလေသည်။) စတုတ္ထအစုဌ်ကား မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ ချင်က မိမိသည် မော်စကိုမြို့ရိုးအတွင်း၌ မြို့စောင့်တပ် များနှင့် အတူ အသေခံကာကွယ်ရန် ဆုံးဖြတ်ပြီးဖြစ် ကြောင်း၊ သို့ရာတွင် နောက်ဆုံး စစ်ရေးစစ်ရာများကို မိမိ အား အသိမပေးဘဲထားသဖြင့် များစွာဝမ်းနည်းမိကြောင်း၊ မိမိသာ အခြေအနေအရပ်ရပ်ကို ကနဦးကသိခဲ့လျှင် ဤ အခြေသို့ ရောက်မည်မဟုတ်ကြောင်း စသဖြင့် အာဝဇ္ဇန်း ခပ်ရွှင်ရွှင်ပြောလျက်

ရှိ၏။ ပဉ္စမအစုမှ စစ်ဗိုလ်ချုပ်များမှာ သေနင်္ဂဗျူဟာများကို မိမိတို့သာ တတ်ကျွမ်း နားလည် သည်ဟူသော ပလွှားခြင်းမျိုးကိုဆောင်လျက် မိမိတို့ တပ် များ မည်သည့်ဒေသဘက်သို့ ဆုတ်ခွာသင့်ကြောင်းကို ဆွေးနွေးလျက်ရှိကြ၏။ ဆဋ္ဌမအစုကား တောင်စဉ်ရေမရ စကားများကို ပြောဆိုလျက်ရှိလေသည်။ မိမိအနီးတွင် ပြောဆိုလျက်ရှိသော ဗိုလ်ချုပ်အသီးသီး၏စကားကို နား ထောင်လျက်ရှိသော စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ မျက်နှာကား သုန်မှုန်သည်ထက် သုန်မှုန်လာခဲ့လေပြီ။

ငင်းတို့ပြောဆိုနေကြသော စကားများကို ခြုံကြည့်လိုက် လျှင် အချက်တစ်ချက်သာ ထွက်ပေါ်လာ၏။ ယင်းကား မော်စကိုမြို့မှ ခုခံရေးကိစ္စသည် လုံးဝမဖြစ်နိုင်။ ပို၍ တိ ကျစွာဆိုရလျှင် တပ်မှူးလုပ်သူ ဉာဏ်အမြော်အမြင်ကင်းမဲ့ ၍ မော်စကိုမြို့မှသာ ခုခံကြစတမ်းဆိုလျှင် မိမိတို့တပ်များ ဖရိုဖရဲဖြစ်ရုံသာ ရှိမည်၊ တိုက်ပွဲကား လုံးဝမဖြစ်နိုင်ဆို သောအချက် ဖြစ်လေသည်။ တပ်မှူးများအားလုံးကပင် လက်ရှိအနေအထားသည် ရန်သူကို ခုခံနိုင်သောအနေ အထားမဟုတ်ဟု ယူဆလျက် ရှိကြရုံမျှမက မော်စကိုမြို့ ကို မုချဆတ်ဆတ် စွန့်ခွာရတော့မည်ဟူ၍လည်းကောင်း၊ မော်စကိုမှ ဆုတ်ခွာပြီးနောက်တွင် အခြေအနေ မည်သို့ မည်ပုံ ရှိမည်ဟူ၍ လည်းကောင်း ဆွေးနွေးလျက်ပင် ရှိ ကြပြီ ဖြစ်ရကား ရန်သူကို ခံတိုက်ဖို့ဆိုသည့်ကိစ္စမှာ စိတ် ကူးထည့်၍မျှပင် မဖြစ်နိုင်တော့ချေ။ စစ်ရှုံးမည်ဟု တွက် ထားသော တပ်မှူးသည် မိမိ၏တပ်များကို မည်သို့ခေါင်း ဆောင်တိုက်နိုင်ပါဦးမည်နည်း။ တပ်မှူးများသာမက တပ် ဗိုလ်များနှင့် တပ်သားများကိုယ်တိုင်ကလည်း မော်စကိုမှ သာ ခံတိုက်ရလျှင် မုချရှုံးမည်ဟု ထင်မှတ်လျက်ရှိရကား (ထင်မှတ်ရုံမျှမကပါ၊ သေချာစွာ စဉ်းစားသုံးသပ်၍လည်း ပြီးကြပါပြီ။) မော်စကိုမှ ခုခံ၍ မဖြစ်နိုင်တော့ချေ။ ဗိုလ် ချုပ် ဘင်နစ်ဆန်က မော်စကိုမြို့ အနေအထားသည် ကောင်းမွန်၍ ထိုနေရာမှ ခုခံတိုက်ခိုက်ရမည်ဟု ဇွတ် အတင်း တိုက်တွန်း

နေလျှင်မူကား ယင်းမှာ တကယ် ယုံ ကြည်၍ ပြောခြင်းမျိုးမဟုတ်ဘဲ စစ်သေနာပတိချုပ် ကူ တူဇေ့ဗ်ကို အကျပ်အတည်းတွေ့အောင်၊ ခြေလှမ်းမှား အောင် အကောက်ကြံခြင်းမျှသာ ဖြစ်ပေလိမ့်မည်။ ဤ သည်ကို စစ်သေနာပတိ ချုပ် ကူတူဇေ့ဗ်ကလည်းကောင်း စွာသိပြီး ဖြစ်ပေသည်။

မိုလ်ချုပ်ဘင်နစ်ဆန်သည် နယ်မြေအနေအထား ကို ရွေးချယ်ပြီးနောက် မော်စကိုမြို့မှ ခုခံရန် အကြောက် အကန် ပြောဆိုခြင်းအားဖြင့် မျိုးချစ်စိတ်ဓာတ် ကြီးမား ကြောင်းကို ပြလျက် ရှိ၏။ (စစ်သေနာပတိချုပ် ကူတူ ဇေ့ဗ်သည် မျက်တောင်တဖျတ်ဖျတ်ချတ်၍ နားထောင် လျက် ရှိသည်။) စစ်သေနာပတိချုပ် ကူတူဇေ့ဗ်၏အမြင် ၌ကား မိုလ်ချုပ်ဘင်နစ်ဆန်၏အကောက်ကြံမှုသည် လယ် ပြင်တွင် ဆင်သွားသကဲ့သို့ အထင်းသားပေါ်လျက် ရှိ သည်။ ဘင်နစ်ဆန်၏အကြံ မှာ မော်စကိုတွင် အရေးနိမ့် လျှင် ယင်းသို့အရေးနိမ့်ရခြင်းသည် "စာကလေး တောင် ကုန်း' အရောက် တိုက်ပွဲတစ်ပွဲမျှ မတိုက်ဘဲ ဆုတ်ခဲ့သော စစ်သေနာပတိ ချုပ်၏ အစီအမံကြောင့် ဖြစ်သည်ဟု အပြစ် ပုံချရန် ဖြစ်သည်။ အရေးသာလျှင် မိမိ၏အစီအမံကြောင့် ဖြစ်သည်ဟု ဂုဏ်ယူရန်ဖြစ်သည်။ အကယ်၍ လုံးဝ ခုခံခြင်း မပြုလျှင်ကား မော်စကိုမှ သေနတ်တစ်ချက်မျှ မဖောက် ဘဲ ဆုတ်ခွာခဲ့ခြင်း ကြောင့် ရွှေနန်းတော်ကြီးက ရာဇမာန် ရလျှင် ထိုကိစ္စ၌ မိမိတာဝန်မရှိဟု ကိုယ်လွတ်ရုန်းရန် ဖြစ်လေသည်။ သို့ရာတွင် အဘိုးအို စစ်သေနာပတိချုပ် ကူတူ ဇေ့ဗ်သည် မိုလ်ချုပ်ဘင်နစ်ဆန်၏အကောက်ဉာဏ် ကို စိုးရိမ်ကြောင့်ကြ၍ မနေ နိုင်တော့ချေ။ ၎င်း၏စိတ် တွင် လိပ်ခဲတည်းလည်းဖြစ်လျက်ရှိသော ပြဿနာမှာ တစ်ခုတည်းသာ ရှိသည်။ ထိုပြဿနာကို မည်သူမျှလည်း ယခုတိုင် ပြေလည် အောင် မဖြေရှင်းနိုင်ကြသေး။ ထို ပြဿနာကား အခြားမဟုတ်။ "မိမိသည် မော်စ ကိုမြို့တွင် နပိုလီယန်အား အရှုံးပေးခဲ့ရချေပြီလော။ သို့အရှုံးပေးခဲ့ရ လျှင် မည် သည့်အချိန်က အရှုံးပေးခဲ့ရချေပြီနည်း။ မည် သည့်အချိန်က ဆုံးဖြတ်ခဲ့သနည်း။

ယမန်နေ့က ဗိုလ်ချုပ် ပလာတော့ဗ်အား စစ်ဆုတ်ရန်အမိန့်ပေးခဲ့ခြင်းသည်ပင် စစ်ရှုံးခြင်း၏ အစလော။ သို့တည်းမဟုတ် ယမန်တစ်နေ့ ညနေက ဗိုလ်ချုပ်ဘင် နစ်ဆန်အား ဆုတ်ခွာရန် အမိန့်များ ထုတ်ပြန်ခိုင်းခြင်းသည်ပင်စစ်ရှုံးခြင်း၏အစ လော။သို့မဟုတ် ခပ်စောစောကတည်းကပင် စစ်ရှုံးခဲ့ချေပြီလော။ ယခု အခြေ၌ကား မော်စကိုကို စွန့်ခွာရတော့မည်။ ရုရှား တပ်မတော်ကြီးသည်လည်း ဆုတ်ခွာရတော့မည်။ ယင်း သို့ ဆုတ်ခွာရန်လည်း အမိန့်ထုတ်ပြန်ရတော့မည်ဆို သော အချက်သည် တကယ်လော” ဟူသော ပြဿနာ ဖြစ်၏။ ဤပြဿနာသည် စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ စိတ်၌ လိပ်ခဲတည်းလည်းဖြစ်လျက် ရှိလေ သည်။ ဤသို့ ဆုတ်ခွာရန် အမိန့်ကိုထုတ်ပြန်ရလျှင် မိမိအဖို့ တပ်မတော် ၏သေနာပတိချုပ်အဖြစ်မှ နုတ်ထွက်သည်နှင့် ဘာထူး သေးသနည်း။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် အာဏာ၏အရသာကို “လျှာလည်” ကာ အာဏာကို ခုံမင် တွယ်တာတတ်သူ ဖြစ်၏။ (ရုရှား-တူရကီစစ်ပွဲတုန်းက မိမိ၏ ဗိုလ်ချုပ်ဖြစ်သော မင်းသားကြီး ပရိုဇိုရော့စကီ ဆု တံဆိပ်တော်များ ရရှိခဲ့ပုံကို တွေ့ခဲ့ကတည်းက ကူတူဇော့ဗ် သည် အာဏာကို မက်မောရမှန်း သိလာခဲ့သည်။ ထိုမျှ မက မိမိသာလျှင် ရုရှားပြည်ကြီးကို ကယ်တင်နိုင်သူဖြစ် `သည်ဟု လည်းကောင်း၊ ထို့ကြောင့်သာလျှင် တိုင်းသူပြည် သားများသည် ရွှေနန်းရှင်၏အလိုကို ဆန့်ကျင်လျက် မိမိအား စစ်သေနာပတိချုပ်အဖြစ် ရွေးချယ် ခဲ့ရခြင်း ဖြစ် သည်ဟုလည်းကောင်း ယူဆလျက် ရှိလေသည်။ ဤသို့ သော အကျပ်အတည်းကာလ၌ တပ်မတော်ကို ကွပ်ကဲ ဦးစီးနိုင်သူမှာ မိမိတစ်ဦးတည်း သာ ရှိသည်ဟုလည်း ကောင်း၊ စစ်သူကြီး နပိုလီယန်ကို ရဲရဲဝံ့ဝံ့ ခုခံ တိုက်ခိုက်ဝံ့ သူမှာ ကမ္ဘာတွင် မိမိတစ်ဦးတည်းသာရှိသည်ဟု လည်း ကောင်း အထင်ရောက် လျက် ရှိပေသည်။ ထို့ကြောင့် စစ် သေနာပတိချုပ် ကူတူဇော့ဗ်သည် ဆုတ်ခွာရေး အတွက် အမိန့်ပေးရန် လက်တွန့်လျက်ရှိခြင်း ဖြစ်သည်။ သို့ရာ တွင် လက်တွန့်နေ

ရုံနှင့် မပြီးချေ။ တစ်ခုခုကို ဆုံးဖြတ် ရပေတော့မည်။ မိမိအနီးတွင် "တောရမ်းမယ် ဘွဲ့" ပြော ဆိုလျက်နေခြင်းကိုလည်း ရပ်တန့်သွားအောင် ပြုလုပ်ရ ပေဦးမည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် အရေးကြီး သော ဗိုလ်ချုပ်များကို အပါးသို့ ခေါ်လိုက်၏။

"အိမ်း ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ ငါ့ဦးနှောက်ကိုပင် ငါ အားကိုး ရတော့မည်" စစ်သေနာ ပတိချုပ်ကူတူဇော့ဗ်သည် ဤသို့ပြော၍ ထိုင်ရာမှထကာ မိမိ၏ကရထားများရှိရာ ဗီလီဒေသသို့ မြင်းစီး၍ ထွက် လာခဲ့လေသတည်း။

# အခန်း ၄

စစ်ဦးစီးဌာနချုပ်၏ အရေးပေါ်အစည်းအဝေးကို မွန်းလွဲ နှစ်ချက်တီးတွင် ကျင်းပလေသည်။ အရေးပေါ် အစည်း အဝေးကျင်းပရာနေရာကား အင်ဒရူးဆာဗို စယာမော့ဆိုသူ လယ်သမားတစ်ဦး၏တဲတွင် ဖြစ်၏။ တဲမှာ အနည်းငယ် ကျယ်ဝန်း၏။ လယ်သမားအင်ဒရူး၏ အိမ်သူအိမ်သား များသည် နောက်ဖေးခန်း ဘက်သို့ ရှောင်ပေးကြ၏။

ခြောက်နှစ်သမီးအရွယ်ရှိ မာလာရှာဆိုသူ အင်ဒရူး၏သမီး ငယ်ကလေး သာလျှင် အစည်းအဝေးကျင်းပမည့် အိမ်ရှေ့ ခန်းတွင် ကျန်ရစ်ခဲ့လေသည်။ စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်သည် လက်ဖက်ရည်သောက်ရင်း မာလာရှာကို သကြားခဲတစ်ခဲ ပေး၍ ချော့လျက်ရှိသည်။ မာလာရှာသည် မီးလင်းဖိုကြီးအထက် ထပ်ခုံပေါ်တွင် ထိုင်ရင်း အခန်း ၊ ထဲသို့ တစ်ယောက်ပြီး တစ်ယောက်ရောက်လာ ကာ အခန်း ထောင့်ရှိ ရုပ်တုများအောက် ခုံရှည်ကြီးများပေါ်တွင် ဝင် ထိုင်ကြသော စစ်ဗိုလ်ချုပ်ကြီးများ၏ ဝတ်စုံများ၊ ဆုတံဆိပ် အဆင်အယင်များ၊ မျက်နှာများကို

ရှက်ကြောက်ဝမ်းသာ သော အမူအရာဖြင့် ချောင်းကြည့်လျက်ရှိ၏။ မာလာရှာသည် စစ်သေနာပတိချုပ် ကူတူဇော့ဗ်အား "ဘဘကြီး" ဟု စိတ်ထဲက နာမည်ပေးထားလိုက်သည်။ ဘဘကြီးသည် မီးလင်းဖိုနောက် ချောင်ထဲတွင် တစ်ယောက်တည်းထိုင် လျက် ရှိသည်။ ဘဘကြီးသည် လက်တင်ကုလားထိုင်တစ်လုံးပေါ်တွင် ခေါင်းငိုက်စိုက်ချ၍ ထိုင်လျက်ရှိပြီး မကြာ ခဏ ချောင်းဟန့်ကာ ဝတ်ရုံအင်္ကျီလည်ထောင်ကို ဆွဲ၍ ဆန့်နေသည်။ ဝတ်ရုံအင်္ကျီမှာ ကြယ်သီးတပ်ထားခြင်း မရှိသော်လည်း လည်ပင်းတစ်ခုလုံးကို ဖုံးအုပ်လျက် ရှိ သည်။ အခန်းထဲသို့ ဝင်လာကြသော ဗိုလ်ချုပ်များသည် စစ်သေနာပတိချုပ်ထံ တစ်ယောက်ပြီးတစ်ယောက် သွားရောက်နှုတ်ဆက်ကြသည်။ စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်သည် အချို့ဗိုလ်ချုပ်များကို လက်ဆွဲနှုတ်ဆက်၍ အချို့ကို ခေါင်းညိတ်ပြ၏။ စစ်သေနာပတိချုပ်၏ တပ်ရေး ကေဆာရော့ဗ်သည် စစ်သေနာပတိချုပ်ရှေ့ရှိ ပြတင်းပေါက် မှ ခန်းဆီးကို ဆွဲဖယ်လိုက်မည်ပြု၏။ သို့ရာတွင် စစ် သေနာပတိချုပ်က လက်ကိုယမ်းပြလိုက်သဖြင့် တပ်ရေး ကေဆာရော့ဗ်သည် စစ်သေနာပတိချုပ်၏ ဆန္ဒကို နား လည်ကာ ပြန်ထွက်သွားလေသည်။

လယ်သမားများ စာရင်းတွက်လေ့ရှိသည့် စားပွဲခုံ ပေါ်၌ကား မြေပုံများ၊ ဇယားကွက်များ၊ ခဲတံများ၊ စာ ရွက်စာတမ်းများ စုပုံလျက်ရှိ၍ ဘေးပတ်ပတ်လည်တွင် ဗိုလ်ချုပ်များ ဝိုင်းအုံလျက်ရှိလေရာ ထိုင်စရာပင် မရှိတော့ သဖြင့် တပ်လုလင်များက နောက်ထပ် ထိုင်ခုံများ လာ၍ ချပေးကြ၏။ နောက်ထပ်ရောက်ရှိလာသော ဗိုလ်ချုပ်များ ဖြစ်သည့် ဗိုလ်ချုပ် အာမိုလော့ဗ်၊ ဗိုလ်ချုပ် ကေဆာရော့ဗ်နှင့် ဗိုလ်ချုပ် တိုးလ်တို့သည် တပ်လုလင်များ လာချပေး သော ထိုင်ခုံများတွင် ဝင်ထိုင်လိုက်ကြသည်။ ရုပ်တုစင်  များအောက်တွင် ရောက်နေသော ရှေ့ဆုံးခုံတန်း၌ကား ဗိုလ်ချုပ်ဘာကလေထိုင်လျက်ရှိသည်။ ဗိုလ်ချုပ်ဘာကလေ ၏ နဖူးကျယ်ကြီးသည် ပြောင်တင်းသော "ကတုံးသရဖူ"

အောက်၌ ထင်းထင်းကြီးပေါ်လျက် ရှိ၏။ ဗိုလ်ချုပ် ဘာ ကလေသည် လည်ပင်းတွင် စိန့်ဂျော့ကြက်ခြေ ဆုတံဆိပ် တော်ကို ဆွဲထားသည်။ မျက်နှာမှာ ဖြူရော်လျက်ရှိကာ မသာယာသောအသွင်ကို ဆောင်လျက် ရှိ၏။ ဗိုလ်ချုပ် ဘာက လေမှာ လွန်ခဲ့သောနှစ်ရက်ခန့်ကတည်းက ဖျား လျက်ရှိရာ ယခုအချိန်တွင် ကိုယ် လက်တစစ်စစ် ကိုက်ခဲ ကာ တုန်လျက်ရှိလေပြီ။ ဗိုလ်ချုပ် ဘာကလေ၏ဘေးတွင် မူ ဗိုလ်ချုပ်အူဗာရော့ ထိုင်လျက်ရှိပြီး ထုံးစံအတိုင်း လေသံ ကလေးဖြင့် နောက်ဆုံးသတင်းများကို ပြောလျက် ရှိသည်။ ဝဝဖိုင့်ဖိုင့် ဗိုလ်ချုပ်ဒိုတူရော့ကား လက်နှစ်ဖက်ကို ဝမ်းဗိုက် ပေါ်တွင် ယှက်၍ တင်ထားကာ မျက်ခုံးချီ၍ စူးစိုက် နားထောင်လျက် ရှိသည်။ ၎င်း၏ ဘေးတွင်ကား ကိုယ့် အတွေးနှင့် ကိုယ် တိတ်ဆိတ်လျက်ရှိသော မြို့စားကြီး ဗိုလ်ချုပ်သြစတာမန် ထိုင်လျက်ရှိ၏။ ဗိုလ်ချုပ်သြစတာ မန်သည် ရဲရင့်ပြတ်သားသော မျက်နှာပေါက်၊ တောက် ပြောင် စူးရှသော မျက်လုံးများနှင့် တကွ ကြီးမားသော ခေါင်းရှိသူ ဖြစ်၏။ ဗိုလ်ချုပ် သြစ တာမန်သည် မေးကို လက်ဖြင့်ထောက်၍ စဉ်းစားခန်းဝင်လျက် ရှိလေသည်။ နားပန်းဆံကို ရှေ့သို့ လိပ်ကောက်ထားလေ့ရှိသော ဗိုလ် ချုပ် ဒေါ့စကီမှာ စိတ်တို လျက် ရှိသောအမူအရာဖြင့် စစ် သေနာပတိချုပ် ကူတူဇော့ဗ်ကို တစ်လှည့်၊ တံခါး ဝဆီသို့ တစ်လှည့် မကြာခဏ လှမ်း၍ကြည့်နေသည်။ တည်ကြည် ခန့်ညားသော ဗိုလ်ချုပ် ကိုနိုနစ်ဆင်၏ မျက်နှာကား ခပ် ပြုံးပြုံးပင်။ ဗိုလ်ချုပ်ကိုနိုနစ်ဆင်သည် မာလာရှာနှင့် မျက်လုံးချင်း ဆုံမိလေရာ မာလာရှာကလည်း ဗိုလ်ချုပ် ကိုနိုနစ်ဆင် ကို ကြည့်၍ ပြုံးလျက်ရှိလေသည်။

၎င်းတို့အားလုံးမှာ ဗိုလ်ချုပ်ဘင်နစ်ဆန်ကို စောင့် နေကြခြင်း ဖြစ်သည်။ ဗိုလ်ချုပ်ဘင်နစ်ဆန်သည် မြေပြင် အနေအထားကို လှည့်လည်ကြည့်ရှုနေသည် ဟု အကြောင်း ပြကာ ညစာစားလျက် ရှိလေသည်။ ဗိုလ်ချုပ်များသည် ဗိုလ်ချုပ် ဘင်နစ်ဆန်ကို ညနေလေးချက်တီးမှ ခြောက်ချက် တီးအချိန်အထိ စောင့်ဆိုင်း

လျက်ရှိကြကာ အလုပ်စခန်း ကို မစနိုင်ကြသေးဘဲ အခြားကိစ္စများကို တီးတိုး ပြောဆို  လျက် ရှိကြလေသည်။

ဗိုလ်ချုပ် ဘင်နစ်ဆန် ရောက်လာသော အခါကျမှ စစ်သေနာပတိချုပ် ကူတူဇော့ဗ်လည်း ချောင်ထဲမှ ထခဲ့၍ စားပွဲနားသို့ ရောက်လာလေသည်။ သို့ရာတွင် မျက်နှာကို အလင်းရောင်ထိုးမည်စိုးသည့်အတွက် ထွန်းညှိထားသော ဖယောင်းတိုင်များအနီးတွင် မထိုင်ချေ။

အစည်းအဝေး စလျှင်စချင်း ဗိုလ်ချုပ်ဘင်နစ်ဆန် က "သွေးသောက်တို့၊ ကျုပ်တို့သည် ရုရှားနိုင်ငံ၏ ရှေး ဟောင်းမြို့တော်ကြီးလည်း ဖြစ်၊ အထွတ်အမြတ် ထားရာ လည်း ဖြစ်သော မော်စကိုမြို့တော်ကို သေနတ်တစ်ချက် မျှ မဖောက်ဘဲ ရန်သူလက်သို့ ဝကွက်အပ်ကြမည်လော။ သို့တည်းမဟုတ် အရိုးကြေကြေ အရေ ခန်းခန်း ခုခံ ကာ ကွယ်ကြမည်လော"ဟု မေးလိုက်၏။ အားလုံး မည်သူမျှ မဖြေ နိုင်ကြဘဲ တိတ်ဆိတ်လျက် ရှိ၏။ ဗိုလ်ချုပ်များ အားလုံးသည် မျက်မှောင်ကုတ် လျက် ရှိကြသည်။ စစ် သေနာပတိချုပ် ကူတူဇော့ဗ်၏ စိတ်ဆိုးမာန်ဆိုးဖြင့် ချွဲ ရှင်း သံ၊ ချောင်းဟန့်သံသာလျှင် တိတ်ဆိတ်ခြင်းကို ဖြို ဖျက်လျက် ရှိလေသည်။ အားလုံးသောမျက်လုံးများသည် စစ်သေနာပတိချုပ်ကူတူဇော့ဗ်ကိုသာ စိုက်ကြည့် လျက် ရှိကြ၏။ မီးဖိုထပ်ခိုးစင်ပေါ်မှ မာလာရှာသည်လည်း "ဘဘကြီး"ကို လှမ်း ကြည့်လျက် ရှိလေသည်။ စစ်သေနာ - ပတိချုပ်ကူတူဇော့ဗ်သည် မာလာရှာနှင့် အနီးဆုံးနေရာတွင် ထိုင်လျက်ရှိရာ ရှုံ့ချည်မဲ့ချည်ပြုနေသော စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်၏မျက်နှာကို ထင်ရှားစွာ မြင်နေရ၏။ စစ်သေနာပတိချုပ်၏မျက်နှာ သည် ငိုတော့မည့်မျက်နှာ မျိုး ဖြစ်၏။ သို့ရာတွင် ငိုတော့မည့် မျက်နှာထားမှာကြာ ကြာမတည်ချေ။

"ရုရှားနိုင်ငံတော်ကြီး၏ ရှေးဟောင်းမြို့တော် လည်း ဖြစ်၊ အထွတ်အမြတ် ထားရာလည်း ဖြစ်သော မော်စကိုမြို့တော်တဲ့၊ ဟုတ်စ"

( စစ်သေနာပတိချုပ်ကူတူဇော့ဗ်က တမင်အရွဲ့တိုက် ၍ ပြောမှန်းသိအောင် အသံကို အုပ်၍ ပြောလိုက်၏။

"သွေးသောက်ကြီး ပြောသည့်စကားသည် ရုရှား လူမျိုးတစ်ဦးအဖို့ ဘာမျှ အဓိပ္ပာယ်မရှိပြီ" (စစ်သေနာပတိ ချုပ်သည် ၎င်း၏လေးလံလှသော ခန္ဓာကိုယ်ကြီး ကို ရှေ့ သို့ တိုးလိုက်သည်။) "ဤပြဿနာကို ဤနေရာတွင်လာ၍ ဆွေးနွေးနေ လျှင်လည်း ဘာမျှ အရာမထင်ပြီ။ ယခု သွေး သောက်ကြီးများကို အရေးတကြီး တိုင်ပင်ဆွေးနွေးခြင်း အကြောင်းမှာ ဤသို့သော အသေးအဖွဲ ပြဿနာကို ဆွေး နွေးရန် မဟုတ်။ အရေးကြီးသော စစ်ရေးစစ်ရာများကို ဆွေးနွေးရန် ဖြစ်သည်။ ရုရှားနိုင်ငံကြီးအား မည်သို့ မည်ပုံ ကယ်တင်ရမည်ဆိုသည့်ကိစ္စကို ဆွေးနွေးရန် ဖြစ်သည်။ ယခု ကျွန်ုပ်တို့ ရင်ဆိုင်နေရသော ပြဿနာမှာ မော်စကိုမြို့ အပျက်ခံ၍ ရင်ဆိုင်တိုက်ပွဲကို ရှောင်ကွင်းမည်လော၊ သို့ တည်းမဟုတ် မော်စကိုမြို့နှင့်တကွ ကျုပ်တို့ တပ်မတော် ကြီးကိုပါ အပျက်ခံ၍ ရင်ဆိုင်တိုက်ပွဲ တိုက်မည်လောဆို သည့် ပြဿနာဖြစ်သည်။ ဤပြဿနာနှင့်ပတ်သက်၍ သွေးသောက်ကြီးတို့၏ ထင်မြင်ချက်ကိုသိလိုသဖြင့် ဆွေး နွေးရခြင်း ဖြစ်သည်"

စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် ဤသို့ပြော ပြီးနောက် ကုလားထိုင်ကို မှီ၍ ထိုင်ချလိုက်သည်။

သို့ဖြင့် တစ်ယောက်တစ်ပေါက် ငြင်းခုံစ ပြုကြ လေပြီ။ ဗိုလ်ချုပ်ဘင်နစ်ဆန်ကား အလျှော့မပေးသေးချေ။ ဗိုလ်ချုပ်ဘာကလေနှင့် အခြား ဗိုလ်ချုပ်များက ဖီလီဒေသ မှ ခံစစ်ဆင်၍မဖြစ်နိုင်ကြောင်း တင်ပြကြ၏။ ဗိုလ်ချုပ် ဘင်နစ်ဆန်သည် ၎င်းတို့၏အကြောင်းပြချက်များကို ငြင်း ဆိုခြင်းမရှိသော်လည်း

မျိုးချစ်စိတ်ဓာတ် ထက်သန် ကြောင်းနှင့် မော်စကိုမြို့ကို ခုံမင်တွယ်တာကြောင်း ပြလို သည့်အလျောက် မိမိတို့တပ်များကို ညဥ့်အချိန်တွင် လက် ယာတောင်ပံမှ လက်ဝဲတောင်ပံသို့ တိတ်တဆိတ်ပြောင်း ရွှေ့သင့်ကြောင်း၊ သို့ပြောင်းရွှေ့ပြီး နောက်တစ်နေ့ အရုဏ် တက်၌ ရန်သူလက်ယာတောင်ပံကို တိုက်စစ်ပြုသင့် ကြောင်းဖြင့် အကြံပေးလေသည်။ ၎င်း၏အဆိုကို အချို့က ထောက်ခံ၍ အချို့က ကန့်ကွက်ကြ၏။ ဗိုလ်ချုပ် အာမို လော့ဗ်၊ ဗိုလ်ချုပ် ဒိုတူရော့ဗ်နှင့် ဗိုလ်ချုပ် ရေစ ကီတို့က ဗိုလ်ချုပ်ဘင်နစ်ဆန်ကို ထောက်ခံကြသည်။ ရန်သူနှင့် တိုက်ပွဲတစ်ပွဲ လောက် တိုက်ပြီးမှ မော်စကိုကို စွန့်ခွာသင့် သည်ဟု ထိုဗိုလ်ချုပ်များက ပြောနေ ကြခြင်းမှာ တကယ် ယုံကြည်၍ ရိုးရိုးသားသား ပြောခြင်းလည်း ဖြစ်နိုင်သည်။ မိမိ တို့ ရာထူးတက်ရေး၊ ဆုတံဆိပ်များ ရရေးစသည့် ကိုယ် ရေးကိုယ်တာ အကျိုးစီးပွားကို မျှော်ကိုး၍ ပြောခြင်းလည်း ဖြစ်နိုင်သည်။ မည်သည့် အကြောင်း ကြောင့် ပြောသည် ဖြစ်စေ၊ ယခု အစည်းအဝေးသည် ရာဇဝင်အဖြစ်အပျက် များ၏လမ်းကြောင်းကို ပြောင်း၍မရနိုင်ဆိုသည့်အချက် ကိုကား ထိုဗိုလ်ချုပ်များ နားလည်ဟန်မတူချေ။ လက်တွေ့ ၌ မော်စကိုမြို့သည် ရန်သူ့လက်သို့ ကျဆုံး သောအခြေ အနေသို့ ရောက်လျက်ရှိပြီဆိုသည့်အချက်ကိုလည်း သတိ ထားမိဟန် မတူကြချေ။ သို့ရာတွင် အချို့သော ဗိုလ်ချုပ် . များကား ဤအချက်ကို သတိထား မိပုံ ရကြ၏။ ထို့ကြောင့် ၎င်းတို့သည် မော်စကိုမှ ခံရေး မခံရေးကို စကားထဲ ထည့် မပြောကြတော့ဘဲ မည်သည့်ဘက်ကို ဆုတ်ခွာသင့် ကြောင်းကိုသာ ပြောဆိုလျက် ရှိကြ၏။

မီးလင်းဖိုထပ်ခိုးပေါ်မှ ချောင်းကြည့်လျက်ရှိသည့် မာလာရှာကား အရေးပေါ် အစည်းအဝေးကို တစ်မျိုးနား လည်လျက် ရှိ၏။ ၎င်းအမြင်၌ ယခု အစည်းအဝေး သည် 'ဘဘကြီး” (စစ်သေနာပတိချုပ် ကူတူဇော့ဗ်) နှင့် “အင်္ကျီ ရှည် ဗိုလ်ကြီး” (ဝတ်ရုံအင်္ကျီရှည်ဝတ်ထားသော ဗိုလ်ချုပ် ဘင်နစ်ဆန်ကို မာလာရှာပေးထားသည့်

အမည်။) တို့နှစ်ဦး ၏ ပုဂ္ဂိုလ်ရေးတိုက်ပွဲဟု မြင်၏။ “ဘဘကြီး” နှင့် “အင်္ဂလိပ် ရှည် ဗိုလ်ကြီး” တို့သည် ငြိုးသူရန်ဖက်ကြီးများသဖွယ် တစ်ယောက်ကို တစ်ယောက် ဒေါသတကြီးဖြင့် ပြောဆို လျက်ရှိခြင်းကို မာလာရှာသတိပြုမိ၏။ မာလာရှာသည် “ဘဘကြီး' ကို ကြိတ်၍ အားပေးလျက်ရှိလေသည်။ ဤသို့ ၎င်းတို့နှစ်ဦး အော်ကြီးဟစ်ကျယ်ငြင်းခုန်လျက်ရှိကြစဉ် “ဘဘကြီး” သည် “အင်္ဂလိပ်ရှည် ဗိုလ်ကြီး” ကို တစ်ချက် ဖျတ် ခနဲ လှမ်းကြည့်လိုက်ပြီးနောက် တစ်စုံတစ်ရာပြော လိုက် သည်တွင် “အင်္ဂလိပ်ရှည် ဗိုလ်ကြီး ငြိမ်ကျသွားခြင်းကို တွေ့ လိုက်ရသဖြင့် မာလာရှာသည် ဝမ်းသာလျက် ရှိလေသည်။ ဗိုလ်ချုပ်ဘင်နစ်ဆန်သည် မျက်နှာကြီးနီရဲကာ အခန်းထဲ တွင် ဒေါသတကြီး လမ်းလျှောက်လျက်ရှိ၏။ ဗိုလ်ချုပ် ဘင်နစ်ဆန် ဒေါသထွက်ခြင်းကား အခြားကြောင့်မဟုတ်။ ပြင်သစ် လက်ယာတောင်ပံကို တိုက်ရန် မိမိတို့တပ်များ အား လက်ယာတောင်ပံမှ လက်ဝဲ တောင်ပံသို့ မည်သည့် အချိန်တွင် တိတ်တဆိတ်ပြောင်းရွှေ့ ထားသင့်သည် ဟူသော အဆိုပြုချက်ကို မိမိက စိတ်အားထက်သန်စွာ တင်ပြသည် ၌ စစ်သေနာပတိချုပ်က လေအေးကလေးဖြင့် ခပ်ယဉ်ယဉ် ပယ်ချလိုက် သောကြောင့် ဖြစ်၏။

“သွေးသောက်ကြီးတို့” စစ်သေနာပတိချုပ်က  ဆို၏။

“သွေးသောက် ဗိုလ်ချုပ်ကြီးဘင်နစ်ဆန်က ကျုပ် တို့၏တပ်မတော်များကို လက်ယာတောင်ပံမှ လက်ဝဲ တောင်ပံသို့ တိတ်တဆိတ်ရွှေ့ပြောင်းကာ ရန်သူ့ လက်ဝဲ တောင်ပံကိုတိုက်ရန် အဆိုပြုခဲ့သည်။ သွေးသောက်ဗိုလ် ချုပ်ကြီး၏ အဆိုပြုချက်ကို ကျုပ် လက်မခံနိုင်ပြီ။ ရန်သူ ၏ အနီးတွင် မိမိတပ်များကို ပြောင်းရွှေ့ခြင်းလောက် အန္တ ရာယ်များသောအရာ မရှိပြီ။ ဤအချက်ကို စစ် သမိုင်း၊ စစ်အတွေ့အကြုံက သက်သေပြခဲ့ပြီ။ ဥပမာ”

စစ်သေနာပတိချုပ်ကူတူဇ်သည် အဖြစ်အပျက် ကို သာခကဆောင်ရန် အတွက် စဉ်းစားနေပုံ ရှိ၏။ အတန်ကြာမှ ဗိုလ်ချုပ်ကြီး ဘင်နစ်ဆန်ကို စိမ်းစိမ်း ကြီး ကြည့်လိုက်ပြီးနောက်

"ဥပမာ၊ ဖရီလင်းတိုက်ပွဲ[3]ကို ကြည့်လေ။ သွေး သောက်ကြီး ဘင်နစ် ဆန်သည် ထိုတိုက်ပွဲအကြောင်းကို ကောင်းကောင်းကြီးမှတ်မိသည်ဟု ကျုပ် ထင်သည်။ ဖရီလင်းတိုက်ပွဲ၌ ကျုပ်တို့ အရေးနိမ့်ခဲ့ရခြင်းမှာ အခြား ကြောင့် မဟုတ်။ ရန်သူ မြင်နိုင်လောက်သောနေရာတွင် ကျုပ်တို့ တပ်မတော်များကို အပြောင်းအရွှေ့ လုပ်ခြင်း ကြောင့်ပင် ဖြစ်သည်။ သို့ပြောင်းရွှေ့ခြင်းကြောင့် ကျုပ် တို့ လှုပ်ရှားမှုများအားလုံးကို ရန်သူ သိခဲ့သည်။ ရန်သူက ကြိုတင်ပြင်ဆင်မှုပြုကာ လက်ဦးမှု ရယူနိုင်ခဲ့သည်"

ခေတ္တမျှ တိတ်ဆိတ်သွားကြ၏။ သို့ရာတွင် စစ် ဗိုလ်ချုပ်များအဖို့ကား တိတ်ဆိတ်ခြင်းသည် ရှည်လျားလှ သည်ဟု ထင်ရသည်။

ခဏကြာလျှင် ထင်မြင်ချက်များကို ဖော်ထုတ် ဆွေးနွေးကြပြန်သည်။ သို့ရာတွင် ယခင်ကလောက် ပြင်း ထန်ရှည်လျားခြင်း မရှိတော့ဘဲ မကြာခဏ အဆက်ပြတ် သွားကြ၏။ နောက်ထပ် ပြောစရာမရှိတော့ပြီဟုလည်း ယူဆနေကြ ဟန် ရှိ၏။

ဤသို့ မကြာမကြာ စကားပြတ်သွားကြစဉ် တစ်ခဏ၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စကား ပြောရန် ဟန်ပြင်သကဲ့သို့ သက်ပြင်းကြီးတစ်လုံးကိုချ လိုက်၏။ စစ်ဗိုလ်ချုပ်များအားလုံးသည် စစ်သေနာပတိ ချုပ်ကို လှမ်းကြည့်လိုက် ကြသည်။

“ကဲ၊ သွေးသောက်ကြီးတို့ အိုးကွဲလျှင် အိုးသူကြီး လုပ်သူ ကျုပ်မှာသာ တာဝန်ရှိတော့သည်”

စစ်သေနာပတိချုပ်သည် ဖြည်းညင်းစွာထကာ ( စားပွဲနားသို့ တိုးလာ၏။

“သွေးသောက်ကြီးတို့၊ သွေးသောက်ကြီးတို့၏ ထင်မြင်ချက်အရပ်ရပ်ကို ကျုပ်ကြားနာပြီးပြီ။ သွေးသောက် ကြီးများကား ကျုပ်နှင့် သဘောတူချင်မှ တူကြမည်။ ကျုပ်အနေဖြင့်ကား”

စစ်သေနာပတိချုပ်သည် စကားကို ရပ်ထားလိုက် ၏။

“ကျုပ်အနေဖြင့်ကား ဘုန်းတော်ကြီးသောဘုရား နှင့်တကွ နိုင်ငံတော်က အပ်နှင်းထားသော အမိန့်အာဏာ ကိုသုံးစွဲလျက် ဆုတ်ခွာရန် အမိန့်ထုတ်လိုက်ပြီ”

ထို့နောက်၌ကား စစ်ဗိုလ်ချုပ်များသည် အသုဘမှ ပြန်လာသူတို့၏ ညှိုးငယ်တိတ်ဆိတ်ခြင်းမျိုးဖြင့် တစ် ယောက်ပြီး တစ်ယောက် အခန်းထဲမှ ထွက်ခွာသွားကြ လေသည်။

အချို့သော ဗိုလ်ချုပ်များကား အစည်းအဝေးတွင် ပြောသကဲ့သို့ ကျယ်လောင်စွာ ပြောဆိုခြင်း မပြုကြတော့ ဘဲ လေသံကလေးများဖြင့် စစ်သေနာပတိချုပ်အား တစ်စုံ တစ်ရာ ပြောဆိုကျန်ရစ်ခဲ့ကြသည်။

မာလာရှာမှာ ဆာလောင်မွတ်သိပ်လျက် ရှိလေပြီ။ မာလာရှာသည် မီးဖိုထပ်ခိုးပေါ်မှ ကုတ်ကတ်ဆင်းလာခဲ့ ပြီးနောက် စကားပြောလျက်ရှိသော ဗိုလ်ချုပ်ကြီးများအား တိုးဝှေ့ကာ အခန်းပြင်သို့ ထွက်လာခဲ့လေသည်။

ဗိုလ်ချုပ်များပြန်သွားသည့်နောက်၌ကား စစ်သေ နာပတိချုပ်ကူတူဇော့ဗ်သည် စားပွဲပေါ်တွင် တံတောင် နှစ်ဖက်ထောက်ကာ အချိန်အတော်ကြာမျှ ခေါင်း

ငိုက်စိုက် ချ၍ ထိုင်နေမိသည်။ ၎င်း၏စိတ်၌ကား "မိမိသည် နပို လီယန်အား မော်စကိုတွင် အရှုံးပေးခဲ့ရပြီလော။ သို့ဆို လျှင် မည်သည့်အချိန်က အရှုံးပေးခဲ့ရပြီနည်း။ နပိုလီယန်အား အရှုံးပေးခဲ့ရခြင်းသည် မည်သူ့တာဝန်နည်း" ဟူသော ကြောက်ဖွယ်မေးခွန်းသည် ထပ်တလဲလဲ ပေါ်လျက် ရှိ လေသည်။

"သွေးသောက်ကြီး၊ ယခု ကျုပ်တို့ ဒုက္ခတွေ့ကြ ပြီ။ ဤအဖြစ်မျိုး ရောက်မည်ဟု ကျုပ် မည်သည့်အခါ ကမျှ မမျှော်လင့်ခဲ့။ ယခု ဒုက္ခတွေ့ကြပြီ" . ထိုနေ့ ည၌ တပ်ရေးဗိုလ်တစ်ဦးဖြစ်သူ ဗိုလ်ချုပ် ရှနေဒါ မိမိထံသို့ ရောက်လာသည့် အခါ၌လည်း စစ်သေနာ ပတိချုပ်သည် ဤသို့ တဖွဖွမြည်တမ်းလျက် ရှိလေသည်။

"ကိုယ်တော်ကြီး ခေါင်းအေးအေးထားပါ။ ကိုယ် တော်ကြီးအနားယူလိုက်ပါ"ဗိုလ်ချုပ်မှူနေဒါကဖျောင်းဖျ၏။

"တောက်၊ ရိုင်းလိုက်လေဗျာ။ မနားဘူးဗျ မနား ဘူး။ သင်းတို့လဲ တူရကီတွေလို မြင်းသားပုပ်စားပြီး ပြေး ရစေ့မယ်။ ကြည့်ပါ။ သင်းတို့လဲ မြင်းသားပုပ်စားပြီး ခွေးပြေး ဝက်ပြေး ပြေးရစေ့မယ်"

စစ်သေနာပတိချုပ်သည် ၎င်း၏ပုတိုသော လက် သီးဆုပ်ဖြင့် စားပွဲကို ထုရင်း အော်လျက်ရှိလေသတည်း။

# အခန်း ၅

ထိုအတောအတွင်း၌ကား မော်စကိုမြို့ကြီးကို ပြာပုံအတိ ဖြစ်အောင် မီးရှို့ စွန့်ခွာသွားကြရန် စတင်ဆော်သြခဲ့သူ ဟု ရာဇဝင်ဆရာများက စာတင်ခဲ့ကြသော မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင်သည် စစ်သေနာပတိချုပ် ကူတူ ဇော့

မ်၏အပြုအမူနှင့် လုံးဝဆန့်ကျင် ကွဲလွဲသောအပြုအမူ များကို ပြုလုပ်လျက် ရှိလေသည်။

ဘိုရိုဒီနိုတိုက်ပွဲပြီးသည့်နောက်၌ ရုရှားစစ်တပ်ကြီး သည် မော်စကိုမှ မရှောင်မလွှဲသာ ဆုတ်ခွာပေးရမည့် အခြေအနေသို့ ဆိုက်ရောက်လာခဲ့လေပြီ။ အလားတူပင် မော်စကိုမြို့ကိုလည်း မလွှဲမရှောင်သာ မီးရှို့ စွန့်ခွာခဲ့ရမည့် အခြေအနေသို့ ဆိုက်ရောက်လာခဲ့လေပြီ။

ဤအချက်ကို ရုရှားလူမျိုးတိုင်း သဘောပေါက်ခဲ့ ကြ၏။ သို့ရာတွင် အသိတရားဖြင့် ဆင်ခြင်သုံးသပ်၍ သဘောပေါက်ခြင်းမျိုး မဟုတ်။ ရင်ထဲ၌ ဖြစ်ပေါ်လာသော ခံစားချက်ဖြင့် သဘောပေါက်ခဲ့ကြခြင်းသာ ဖြစ်လေသည်။

အမှန်အားဖြင့် မိမိတို့၏ မြို့ရွာကို ရန်သူ့လက်သို့ ( မအပ်ဘဲ မီးရှို့ စွန့်ခွာခဲ့သည့်နည်းကို စတင်အသုံးပြုခဲ့သူ မှာ (ပညာရှိရာဇဝင်ဆရာများ မိန့်ဆိုသကဲ့သို့) မော်စကို မြို့ဝန် မြို့စားကြီး ရော့စတော့ချင် မဟုတ်ချေ။ စမိုးလင့် နယ်မှအစ နပိုလီယန်၏ခြေဖဝါးအောက်သို့ ရောက်ခဲ့သော နယ်များမှ ရုရှားပြည်သူများသည် မြို့ဝန် ရော့စတော့ချင် ၏ညွှန်ကြားချက်တစ်စုံတစ်ရာမပါဘဲ ၎င်းတို့သဘောဖြင့် ၎င်းတို့၏ မြို့ရွာနယ်ပယ်များကို မီးရှို့ စွန့်ခွာခဲ့ကြပြီး ဖြစ် လေသည်။ ရုရှားပြည်သူတို့သည် ရန်သူတို့အလာကို တည်ငြိမ်စွာ စောင့်ဆိုင်းခဲ့ကြသည်။ ရုန်းရင်းဆန်ခတ်ဖြစ်ပွားခြင်း၊ တုန်လှုပ်ခြင်း၊ တစ်ဦးကို တစ်ဦး သတ်ဖြတ် လုယက်ခြင်းမရှိဘဲ မိမိတို့၏ကံကြမ္မာကို ရဲရင့်တည်ကြည် စွာ ရင်ဆိုင်ခဲ့ကြသည်။ အကြပ်တည်းဆုံး၊ အခက်ခဲဆုံး သောထိုကာလ၌ မည်သို့ မည်ပုံ ပြုမူရမည်ကို ခေါင်းအေး အေးဖြင့် စဉ်းစားခဲ့ကြသည်။ ရန်သူတို့အနီးသို့ ရောက် လာသည်နှင့်တစ်ပြိုင်နက် သူဌေးသူကြွယ်၊ ကြေးရတတ်လူ တန်းစားများသည် မိမိတို့၏ ဥစ္စာပစ္စည်းတို့ကို

စွန့်ခွာ ထွက်သွားကြ၍ လက်လုပ်လက်စား ဆင်းရဲသားတို့က ထိုကျန်ရစ်သော ပစ္စည်းဟူသမျှကို မီးရှို့ဖျက်ဆီးပစ်ခဲ့ကြ လေသည်။

စစ်ပွဲတစ်ပွဲဖြစ်ပွား၍ ဤအခြေအနေမျိုးသို့ ဆိုက် လျှင် ဤသို့ပြုလုပ်ရမည် ဟူသော အသိသည် ရုရှားလူမျိုး တိုင်း၏အသည်းနှလုံးတွင် ယခင်ကလည်း ကိန်းအောင်း လျက် ရှိခဲ့၍၊ ယခုလည်း ကိန်းအောင်းလျက်သာ ရှိလေ သည်။ မိမိတို့မြို့ကြီးသည် ရန်သူ့လက်သို့ ကျရောက်တော့ မည်။ ရန်သူ့လက်သို့ကျလျှင် အကောင်းပကတိ အကျ မခံပြီ။ ပြာပုံအဖြစ်နှင့်သာ အကျခံတော့မည်ဟူသော စိတ်ဓာတ်သည် ၁၈၁၂ ခုနှစ်က မော်စကိုမြို့သူ မြို့သား တို့၏ အသည်းနှလုံးတွင် ကိန်းအောင်းခဲ့သည်သာ ဖြစ် လေသည်။ ဇူလိုင်လနှင့် ဩဂုတ်လဆန်းလောက်တွင် မော်စကိုမှ တဖွဲဖွဲ ထွက်ခွာနေသူတို့ကို ကြည့်လျှင် ဤ အချက်ကို သိနိုင်သည်။ သယ်ဆောင်နိုင်သမျှ ပစ္စည်းတို့ကို သယ်ဆောင်ပြီးနောက် အိုးအိမ်များနှင့်တကွ ဥစ္စာပစ္စည်း တစ်ဝက်ကျော်ကို စွန့်ပစ်ထွက်ပြေးခဲ့ကြခြင်းမှာ ၎င်းတို့၏ ရင်ထဲတွင် မီးခဲပြာဖုံးဖြစ်နေသော ဇာတိသွေး၊ ဇာတိမာန် စိတ်၊ မျိုးချစ်စိတ်၏ နှိုးဆော်ချက်အရ ပြုလုပ်ခဲ့ကြခြင်း ဖြစ်လေသည်။ မည်သူ၏နှိုးဆော်ချက်ကြောင့် မျှမဟုတ်  ချေ။ မျိုးချစ်စိတ်ဆိုသည်မှာ တိုင်းပြည်နှင့် လူမျိုးကို ချစ် ပါသည်ဟု အာပေါင်အာရင်းသန်သန် ပြောဆိုခြင်း၊ သားငယ်မောင်ငယ်များကို စစ်ထဲ ထိုးထည့်ခြင်း၊ သဘာဝ မဟုတ်သည့်စွန့်စားမှုများဖြင့် “စတန့်” လုပ်ပြခြင်းစသည့် ကိစ္စများကို ခေါ်ခြင်း မဟုတ်ချေ။ သူ့ကျွန်မခံလိုသော စိတ်ဓာတ်ကို မိမိတို့ပြသနိုင်သည့်နည်းဖြင့် ပြသသည့် အမှုကိစ္စမှန်သမျှကို ခေါ်ခြင်း ဖြစ်လေသည်။ မော်စကိုမြို့သူ မြို့သားများသည် မိမိတို့၏ မျိုးချစ်စိတ်ဓာတ်ကို အထက်ပါနည်းဖြင့် ပြသခြင်းမပြုဘဲ အိုးအိမ်များကိုမီးရှို့ စွန့်ခွာသွားခြင်းစသည့် လွန်စွာ သဘာဝကျ၍ လွန်စွာ ရှင်းလင်း လွယ်ကူသည့်နည်းဖြင့် ပြသခဲ့ကြလေသည်။ ဤသို့ပြသခဲ့သည့်

အလျောက်လည်း လွန်စွာထိရောက်သော အကျိုးသက်ရောက်မှုများ ပေါ်ပေါက်ခဲ့ သည်သာ ဖြစ်လေ သည်။

"ဘေးအန္တရာယ်ကို ရင်ဆိုင်ခြင်းမပြုဘဲ ထွက်ပြေး ခြင်းသည် ရှက်ဖွယ် ကောင်းသည်။ သူရဲဘောနည်းသူများ သာ မော်စကိုမှ ထွက်ပြေးကြသည်" ဟု ၎င်းတို့အား တားဆီးပိတ်ပင်သော်လည်း မရချေ။ မော်စကိုမြို့ဝန် မြို့ စားကြီး ရော့စတော့ချင်သည် မော်စကိုမြို့သူ မြို့သားများ အား မြို့မှ ထွက်ခွာခြင်း မပြုရန် တားမြစ်၏။ ထွက်ပြေး ခြင်းသည် ရှက်ဖွယ်ကောင်းကြောင်း ကြော်ငြာထုတ်၏။ မြို့သူမြို့သားများ ကိုယ်နှိုက်ကလည်း သူရဲဘောနည်းသူ ဟု အခေါ်ခံရမည်ကို ရှက်၏။ မြို့ကို စွန့်ခွာထွက်ပြေး ရသည့်အဖြစ်ကို ရှက်၏။ သို့သော်လည်း ၎င်းတို့အားလုံး သည် ဤသို့ ထွက်မပြေး၍ မဖြစ်ဟု တညီတညွတ်တည်း သဘောပေါက်ကာ ထွက်ပြေးမြဲ ပြေးကြသည်သာ ဖြစ် လေသည်။ မော်စကိုမြို့သူမြို့သားများသည် မည်သည့် အကြောင်းကြောင့် ထွက်ပြေးကြသနည်း။ နပိုလီယန်သည် ၎င်းသိမ်းပိုက်ထားသောတိုင်းပြည်များ၌ နှိပ်စက်ကလူပြု လျက်ရှိသည်ဟူသော မြို့ဝန်ရော့စတော့ချင်၏ ဝါဒဖြန့်ချက် ကို ယုံကြည်ကာ ကြောက်လန့်၍ ထွက်ပြေးကြခြင်းလော။ မဟုတ်ချေ။ မော်စကိုမြို့မှ ဦးစွာထွက်ပြေးကြသူများမှာ ဥစ္စာပစ္စည်းကုံလုံကြွယ်ဝသော ပညာတတ်လူတန်းစားများ သာ ဖြစ်ရာ နပိုလီယန်၏ခြေဖဝါးအောက်တွင် ရောက်နေ သော ဘာလင်ရွှေမြို့တော်၊ ဗီယင်နာ ရွှေမြို့တော်တို့၌ ခါတိုင်းကဲ့သို့ သွားမြဲ၊ လာမြဲ၊ ရောင်းမြဲ၊ ဝယ်မြဲဖြင့် ကြက်ပျံမကျစည်ကားလျက်ရှိခြင်းကို ၎င်းတို့ကောင်းစွာ သိပြီး ဖြစ်၏။ နပိုလီယန် ခြေဖဝါးအောက်၌ ထိုမြို့သူ မြို့သားများသည် (ရုရှားများ၊ အထူးသဖြင့် ရုရှား အမျိုး သမီးများ အထင်ကြီးစွဲလမ်းသည့်) ပြင်သစ်အမျိုးကောင်း သားများနှင့် ဖက်လှဲတကင်းရင်းနှီးစွာ ဆက်ဆံနေထိုင် လျက် ရှိခြင်းကိုလည်း ၎င်းတို့သိပြီး ဖြစ်၏။

သို့ဖြစ်လျှင် မော်စကိုမြို့သူမြို့သားတို့ မည်သည့် အတွက်ကြောင့် ထွက်ပြေးကြသနည်း။ အဖြေမှာ ရှင်းပါ သည်။ မော်စကိုမြို့သူမြို့သားများသည် နပိုလီယန်အုပ်စိုး မှုအောက်၌ ဝလင်စွာနေထိုင်ရမည်လော၊ ချို့ငဲ့စွာနေရမည် လောဟူသော အချက်သည် ပြဿနာမဟုတ်တော့ချေ။ ၎င်းတို့ထွက်ပြေးကြခြင်းမှာ နပိုလီယန်၏ခြေဖဝါးအောက် ၌ ကျွန်မခံလိုသောကြောင့်သာ ဖြစ်လေသည်။ ၎င်းတို့အဖို့ နပိုလီယန်၏ခြေဖဝါးအောက်၌ နေရခြင်းလောက် (ရွှေထမင်း၊ ငွေထမင်း စားနေရစေဦးတော့) လောက၌ ရက်ဖွယ်ကောင်းသောအရာ မရှိတော့ပြီဟု ယူဆသော ကြောင့် ဖြစ်လေသည်။ မော်စကိုမြို့သူမြို့သားများသည် ဘိုရိုဒီနိုတိုက်ပွဲ မဖြစ်မီကတည်းက မြို့မှ တသောသော ထွက်ခွာလျက်ရှိကြရာ တိုက်ပွဲပြီး၍ ရုရှားတပ်များ ဆုတ် ခွာလာခဲ့သည့်နောက်၌ကား ဆိုဖွယ်မရှိတော့ချေ။ မော်စကို မြို့ကို ကာကွယ်ကြဟူ၍လည်းကောင်း၊ အစ်ဗာရီယန် မယ်တော်၏အောင်ခြင်းရုပ်တုတော်ကို ပင့်၍ မိမိကိုယ်တိုင် မိစ္ဆာပြင်သစ်တို့ကို ခုခံတိုက်ခိုက်မည်ဟူ၍လည်းကောင်း၊ ပြင်သစ်များကို နှိမ်နင်းရန် မီးပုံးပျံများ ဆောက်လုပ်ပြီး ပြီဟူ၍လည်းကောင်း၊ မော်စကိုမြို့ဝန် ရော့စတော့ချင်က အဓိပ္ပာယ်မရှိသော ကြေညာချက်အမျိုးမျိုးကို ထုတ်လျက် ရှိသော်လည်း အချည်းနှီးသာ ဖြစ်လေသည်။ မော်စကို မြို့သူ မြို့သားတို့၏အမြင်၌ ရန်သူကို ခုခံတိုက်ခိုက်ရန် မှာ တပ်မတော်၏တာဝန်ဟု မြင်သည်။ တပ်မတော်က ရန်သူကို မတိုက်နိုင်ခဲ့သော် အမျိုးသမီးများနှင့် မြေကျွန် တို့ကို "တောင်သုံးလုံး"ရပ်ကွက်သို့ စေလွှတ်၍ နပိုလီယန် ကို ခုခံဖို့ကိစ္စမှာ ဖြစ်နိုင်သောကိစ္စ မဟုတ်။ ထို့ကြောင့် တပ်မတော်က ခုခံတိုက်ခိုက်ခြင်းမပြုနိုင်လျှင် မိမိတို့ အဖို့ နောက်ဆုံးနည်းလမ်းမှာ အိုးအိမ်ပစ္စည်းတို့ကို စွန့် ခွာထွက်ပြေးရုံသာ ရှိတော့သည်ဟု ယူဆကြသည်။ ဤ သို့ဖြင့် မော်စကိုမြို့သူ မြို့သားများသည် အစာရေစာ ပေါများကြွယ်ဝသော မိမိတို့မြို့ကြီးကို ဤသို့ စွန့်ပစ်ခဲ့ခြင်း ကြောင့် ကြီးစွာသောအကျိုးသက်ရောက်မှုများ ဖြစ်ပေါ် လာမည်ကို စိုးစဉ်းမျှ တွေးတောမိခြင်း မရှိကြဘဲ ၎င်းတို့၏ မြို့ကြီးကို စွန့်ပစ်

ထွက်ပြေးခဲ့ကြလေသည်။ ထိုအခါ၌ လူသူအပေါင်းတို့ စွန့်ခွာပြီးဖြစ်၍ သစ်သား အဆောက် အအုံတို့ဖြင့်သာပြီးသော မြို့ကြီးသည်လည်း မုချဆတ်ဆတ် မီးလောင် ပျက်စီးရတော့မည်သာ ဖြစ်လေသည်။ ဤသို့ ဖြင့် မော်စကိုမြို့သူမြို့သား များသည် ၎င်းတို့၏ အသိ၊ ၎င်းတို့၏ ဆန္ဒ၊ ၎င်းတို့၏ အကြောင်းတရားများနှင့် အညီ မြို့ကြီးကို စွန့်ခွာထွက်ပြေးခဲ့ကြလေသည်။ မည်သူ၏ တိုက်တွန်းနှိုးဆော် ချက်ကြောင့်မျှ မဟုတ်ချေ။ ဤသို့ စွန့်ခွာထွက်ပြေးကြခြင်းကြောင့်လည်း ရုရှား လူမျိုးများအား ထာဝစဉ် ဂုဏ်ရောင်ပြောင်စေမည့် ထူးခြားဆန်းကြယ် သည့် အဖြစ်အပျက်ကြီး ပေါ်ပေါက်ခဲ့ခြင်း ဖြစ်လေသည်။ မြို့ဝန် ရော့စတော့ ချင်၏ကြော်ငြာထုတ်၍ ဟန့်တားခြင်း မပြုမီကတည်းက မိမိသည် ဘိုနာပတ်ကျွန် အဖြစ် မခံပြီ ဟူသော ဝိုးတဝါးအသိဖြင့် မိမိ၏ကျွန်များ၊ အခြွေအရံ များနှင့် ဝေး ရာ ပိုင်စားနယ်မြေဘက်သို့ ပြောင်းရွှေ့သွား သော လူကုံထံ အမျိုးသမီးကြီးတစ် ယောက်၏ အပြုအမူ သည် ၎င်း၏ ကိုယ်ရေးကိုယ်တာ ကိစ္စသက်သက်ကို ဆောင်ရွက်ခြင်းမျှသာဖြစ်သည်ဟု ထင်စရာရှိသော်လည်း တကယ်၌ကား ရုရှား နိုင်ငံကြီးအား ရန်သူ့လက်မှ ကယ် တင်ရေးတည်းဟူသော လုပ်ငန်းကြီးကို တစ်ဖက်တစ်လမ်း မှ ဆောင်ရွက်ခြင်းမည်ပေသည်။ သို့ရာတွင် ထိုအချိန်၌ (ရာဇဝင်ပညာရှိတို့ အမွှန်းတင်ခဲ့ကြသော) မြို့ဝန် ရော့ စတော့ချင်သည် မည်သို့ ပြုမူနေသည် ထင်ကြသနည်း။

မော်စကို မြို့သူ မြို့သားများအား မြို့မှ မပြောင်းရွှေ့ရဟု အမိန့်ထုတ်လျက် ရှိသော်လည်း အစိုးရရုံးများကိုကား ကသုတ်ကရက်ပြောင်းရွှေ့လျက် ရှိသည်။ နပို လီယန်အား ခုခံတိုက်ခိုက်မည်ဟု ပြောလျက်ရှိသော်လည်း အရက်မူး လျက်ရှိ သော လူရမ်းကားများအား မီးကျိုးမောင်းပျက် သေနတ်များကို ထုတ်ပေးလျက် ရှိ သည်။ အောင်ခြင်း ဆင်းတုတော်များကို မြို့တွင်းသို့ လှည့်လည်ပင့်ဆောင်ကာ "ဘုရားကု" ကုလျက် ရှိသော်လည်း မော်စကို ဂိုဏ်းချုပ် ဘုန်းတော်ကြီး ဩဂတ်စ

တင်းက ခေတ်မွေသရီများနှင့် ဆင်းတုတော်များကို ပြောင်းရွှေ့ပင့်ဆောင်ရန် စီစဉ်နေ ခြင်းကို ပိတ်ပင်လျက် ရှိသည်။ မော်စကို မြို့တွင်းသို့ ဝင်လာသောလှည်းမှန်သမျှကို ဆီး၍သိမ်းကာ လှည်းအစီး ပေါင်း တစ်ရာသုံးဆယ့်ခြောက်စီးဖြင့် လက်ပစ်၏မီးပုံးပျံ ကြီးကို သယ်ဆောင်ရန် စီစဉ်လျက် ရှိသည်။ မိမိ၏ စံအိမ်အား မိမိကိုယ်တိုင် မီးတင်ရှို့ခဲ့ပုံကို ပြောပြကာ မော်စကိုမြို့ကြီးကိုလည်း မီးတင်ရှို့မည်ဟု ကြုံးဝါးလျက် ရှိသည်။ မော်စကိုမြို့၌ မိဘမဲ့ဂေဟာကို ဖျက်ဆီးပစ်ရ ကောင်းလောဟု ပြင်သစ်အာဏာပိုင်များအား ပြင်းထန်စွာ ပြစ်တင်ကန့်ကွက်သော ကြေညာစာတမ်းကြီးတစ်စောင် ကို ရေးလျက် ရှိသည်။ မော်စကိုမြို့ကြီးကို မီးတင်ရှို့မည် ဟု ကြေညာခြင်းအတွက် အသားယူကာ ခဏကြာလျှင် မီးတင်ရှို့မည် မဟုတ်ဟု ရှင်းလင်းချက် ထုတ်လျက် ရှိသည်။ မြို့တွင်းရှိ သူလျှိုဟုထင်ရသူအားလုံးကို ဖမ်းဆီး ရန် အမိန့်ပေးပြီးနောက် ဖမ်းဆီးလာသောအခါ ဤသို့ ဖမ်းဆီးရကောင်းလောဟု ကြိမ်းမောင်းလျက်ရှိသည်။ မော် စကိုမြို့တွင် ပြင်သစ်အမျိုးသားမှန်သမျှ နေထိုင်ခွင့် မပြု နှင်ထုတ်ပြီးနောက် မဒမ်ဩဘတ်ရှယ်လမေအမည်ရှိ ပြင် သစ်အမျိုးသမီးကြီး (၎င်းမှာ မော်စကိုတွင် နေထိုင်သည့် ပြင်သစ်လူမျိုးများအပေါ်တွင် ဩဇာညောင်းသူ ဖြစ်သည်။) ကိုမူ နေထိုင်ခွင့်ပြုလျက် ရှိသည်။ မော်စကိုတစ်မြို့လုံးက လေးစားသော စာတိုက်တော်မှူး ကလူဂျာရှေ့ကို ဖမ်းဆီးပြီး ကြီးကြီးကျယ်ကျယ် အပြစ်မရှိဘဲ ပြည်နှင်ဒဏ်ပေးလျက် ရှိသည်။ ပြင်သစ်တို့ကို တိုက်ရန်ဟူသောအကြောင်းပြ ချက်ဖြင့် မြို့သူ မြို့သားများအား စာကလေးတောင်ကုန်း တွင် စုဝေးစေပြီးနောက် မည်မည်ရရစီမံခန့်ခွဲခြင်း မပြုတတ်သောအခါ သွေးဆူနေသော လူအုပ်ကြီးလက်သို့ လူတစ်ယောက်ကို အပ်၍ စတေးခဲ့ပြီး နောက်ဖေး မြို့ တံခါးမှ ထွက်၍ ရှောင်ပုန်းလျက် ရှိသည်။ ဤသို့ဖြင့် မြို့ဝန် ရော့စတော့ချင်သည် သွေးရူးသွေးတန်းဖြစ်လျက် ရှိလေသည်။ စင်စစ်၌ မြို့ဝန်ရော့စတော့ချင်သည် လူအများ ၏ရှေ့၌ “လူစွမ်းကောင်း” ကြီးအဖြစ်

အထင်ရောက်အောင်၊ လူများက သူ့ကို “အာဇာနည်” ဟူ၍ အထင်ကြီးအောင် ဟန်ရေးပြလိုခြင်းမှအပ၊ ဖြစ်ပျက်လျက်ရှိသောအခြေအနေ ကို နကန်းတစ်လုံးမျှ နားမလည်ခဲ့ချေ။ မော်စကို မြို့သူ မြို့သားများသည် ၎င်းက အမိန့်ပေးသည်ဖြစ်စေ၊ မပေး သည်ဖြစ်စေ၊ မော်စကိုမြို့ကြီးကို မီးရှို့ စွန့်ခွာသွားကြတော့ မည်သာ ဖြစ်ရာ မြို့ဝန် ရော့စတော့ချင်သည် ကလေးငယ် တစ်ဦးသဖွယ် ထိုရှောင်လွှဲခြင်း ငှာ မစွမ်းသောအဖြစ်အပျက် ကြီးနှင့် မြူးထူးကစားနေခြင်းသာ ဖြစ်လေသည်။ အချုပ် ၌ကား မြို့ဝန် ရော့စတော့ချင်သည် မော်စကိုမြို့ကို မီးရှို့ စွန့်ခွာရေး ဟူသော ပြည်သူလူထုလှုပ်ရှားမှု ရေစီးကြောင်း ကြီးထဲတွင် မျောပါနေသူတစ်ဦး သာ ဖြစ်လျက် ၎င်း၏ သေးငယ်ချည့်နည်းသော လက်ကလေးတစ်ဖက်ဖြင့် ၎င်း အားသယ်ဆောင်သွားမည့် အဟုန်ပြင်းလှသော ရေစီး ကြောင်းကြီးကို တွန်း ဟန်ပြုချည်၊ ဟန့်တားဟန်ပြုချည် ဖြင့် ကစားမြူးထူးနေခြင်းမျှသာ ဖြစ်လေ သတည်း။

# အခန်း ၆

ဟယ်လင်မင်းသမီးသည် ရွှေနန်းတော်သူများနှင့် အတူ ရွှေနန်းရှင်ဘုရား ကြွချီတော်မူရာ ဗီလနာမြို့သို့ လိုက်ပါ သွားခဲ့ပြီးနောက် ပီတာစဘတ်ရွှေမြို့တော် ကို ပြန်ရောက် သောအခါ ကိုယ်ရေးကိုယ်တာ ပြဿနာတစ်ခုကို ကြုံတွေ့ လျက် ရှိသည်။

ပီတာစဘတ်ရွှေမြို့တော်၌ ဟယ်လင်မင်းသမီး သည် ရုရှားနိုင်ငံတော်ကြီး တွင် အမြင့်မားဆုံးသော ရာထူး ကြီးတစ်ခုကို ပိုင်ဆိုင်သည့် မှူးမတ်ကြီးတစ်ဦး၏ အထူး အရေးပေးခြင်းကို ခံရလျက် ရှိ၏။ ဗီလနာမြို့တွင် ရှိစဉ် ကလည်း နိုင်ငံခြား မင်းပျိုမင်းလွင်တစ်ဦးနှင့် ရည်ငံခဲ့လေ သည်။ ပီတာစဘတ်မြို့တော်သို့ ပြန်

ရောက်လာသောအခါ၌ ကား ပြိုင်ဘက်နှစ်ဦးစလုံးပင် ပီတာစဘတ်သို့ ရောက်ရှိ နေ ကြ၏။ ၎င်းတို့နှစ်ဦးစလုံးသည် ဟယ်လင်မင်းသမီးအား လက်ထပ်ခွင့်တောင်း လျက် ရှိကြ၏။ ဤတွင် ဟယ်လင် မင်းသမီးအဖို့ ပြဿနာသစ်တစ်ရပ် ပေါ်လာ လေသည်။ ထိုပြဿနာသစ်ကား အခြားမဟုတ်။ ၎င်းတို့နှစ်ယောက် စလုံးနှင့် မည်သို့ စခန်းသွားရမည်နည်းဟူသော ပြဿနာ ဖြစ်လေသည်။

မျှောက်မထားခြင်း၊ ပို၍ တိကျစွာဆိုလျှင် လင် ကြီးငုတ်တုတ်ရှိလျက် တစ်ပြိုင်နက်တည်း လင်ငယ်နှစ် ယောက်ထားခြင်းအလုပ်သည် အခြားမိန်းမတစ် ယောက် အဖို့ ခက်ခဲသောအလုပ်တစ်ခု ဖြစ်ရုံမျှမက စိတ်ကူးမထည့် ရဲသောကိစ္စ မျိုးဖြစ်၏။ သို့ရာတွင် ဟယ်လင်မင်းသမီး  ကလေးအဖို့ကား ထိုကိစ္စမျိုးသည် ထမင်းစားရေသောက် ကိစ္စတစ်ခုသဖွယ် အနည်းမျှပင် ဝန်လေးတွန့်ဆုတ်ခြင်း မရှိ အခက်အခဲမရှိ ပြုလုပ်နိုင်သောကိစ္စမျိုးဖြစ်ရာ များစွာ ( ပါးနပ်လိမ္မာသော မိန်းမ တစ်ဦးဖြစ်သည်ဟု ကျော်ကြား မည်ဆိုကလည်း ကျော်ကြားထိုက်ပါပေသည်။ ဤ ကိစ္စမျိုး၌ ဖုံးကွယ်ရန် ကြိုးစားခြင်း၊ အကျပ်အတည်းတွေ့လာလျှင် စဉ်းလဲဉာဏ် ဖြင့် နောက်ဆုတ်ခြင်း စသော အပြုအမူများ သည် ကိုယ့်အပြစ်ကိုယ်ဝန်ခံရာ ရောက်သော အပြုအမူမျိုး ဖြစ်၍ ဣန္ဒြေမပျက်နေထိုင်ခြင်း၊ မိမိလော်လီ ဖောက်ပြား လို၍မဟုတ်ဘဲ အခြားသူများ၏ ပယောဂကြောင့် ဖြစ်ဟန် ဆောင် ခြင်းစသည့် နည်းလမ်းများသာလျှင် မိမိ၏ဂုဏ် သိက္ခာကို ကယ်တင်နိုင်သည့်နည်း လမ်းများ ဖြစ်ကြောင်း ကို ဟယ်လင်မင်းသမီး ကောင်းစွာသိ၏။ ထို့ကြောင့် ဟယ် လင်မင်းသမီးသည် သူတစ်ပါးပယောဂကြောင့် ဤအဖြစ်မျိုး ရောက်ရသည့် ဟန်ဆောင်ထားလိုက်သည်။ စိတ်ထဲကလည်း တကယ်ရိုးသားစွာယုံကြည်လျက် ရှိပါ သည်။ ထင်ရှားကြီးကျယ်သည့်ပုဂ္ဂိုလ်တို့မည်သည် ၎င်းတို့ နှစ်သက်လျှင် မည် သည့်အရာကိုမဆို ရဲဝံ့စွာလုပ်လေ့ရှိ သည်ဟု ဆိုကြရာ ထိုအတိုင်း မှန်လျှင် ဟယ်

လင်မင်းသမီး မှာ ဤတစ်ချက်တည်းဖြင့်ပင် ထင်ရှားကြီးကျယ်သည့် ပုဂ္ဂိုလ်များ စာရင်းတွင် ထည့်သွင်းလောက်ပါပြီ။

တစ်နေ့သ၌ ဟယ်လင်မင်းသမီးနှင့် ၎င်းအား ရည်ငံလျက်ရှိသော နိုင်ငံခြား မင်းသားပျိုတို့ တွေ့ကြ၏။

မင်းသားပျိုက မှူးကြီးမတ်ကြီးနှင့်အဆက်ဖြတ်ရန် တောင်း ဆိုခြင်း ပြုသည်။ ဟယ်လင်မင်းသမီးသည် လှပသော ခေါင်းကို ဆတ်ခနဲမော့လိုက်ပြီး နောက် တင်းမာပြတ်သား သောလေသံဖြင့်

"ကြည့်စမ်း၊ ပြောရက်လိုက်တာ။ မောင်တို့ ယောကျ်ားများဟာ တယ်လို့လဲ ရက်စက်ကြ၊ တယ်လို့လဲ ကိုယ်ကျိုးကြည့်တတ်ကြတာပဲနော်။ မိန်းမတစ်ယောက် ဟာ မောင့်အတွက် အစစအရာရာကို စွန့်လွှတ်ခဲ့ရတယ်။ ဒါပေမဲ့ ဘယ်လောက်ပဲ ကိုယ်ကျိုးစွန့်ခဲ့ရ စွန့်ခဲ့ရ၊ နောက် ဆုံးတော့ အသည်းခွဲ ခံခဲ့ရတယ်။ အသည်းကွဲခဲ့ရ တယ်။ မိန်းမတစ်ယောက်အဖို့ ချစ်သူအတွက် စွန့်လွှတ်ရခြင်း ကြောင့်ရတဲ့ဆုလာဒ်ဟာ အသည်းကွဲခြင်းပဲလို့ အောက်မေ့ လိုက်ပါတယ် မောင်။ နေစမ်းပါဦး မောင်။ မောင်က  ဘယ်သူ့ကို မိတ်ဆွေအဖြစ် ပေါင်းသင်းဆက်ဆံရမယ်၊ ဘယ်သူ့ကို ချစ် ရမယ်လို့တောင်းဆိုရအောင် မောင့်မှာ ဘာအခွင့်အရေးများ ရှိလို့လဲ။ တကယ် တော့ သူနဲ့ ဟယ်လင်ထိပ်ထားတို့ရဲ့ ခင်မင်မှုဟာ ဦးရီးတော်တစ်ဦး နဲ့ တူမတော် တစ်ဦး၊ ခမည်းတော်နဲ့ သမီးတော်တစ်ဦး တို့ရဲ့ ခင်မင်မှုထက် မပိုပါဘူး"

မင်းသားပျိုက တစ်စုံတစ်ရာပြောရန် ပြင်လိုက် ၏။ သို့ရာတွင် ဟယ်လင် မင်းသမီးက ပြောခွင့်မပေး ဘဲ ဆက်ပြောလိုက်၏။

"မှန်ပါတယ်။ သူ့အနေနဲ့ ဟယ်လင်ထိပ်ထား အပေါ်မှာ သည့်ထက်သည် လွန်ကဲတဲ့ စေတနာမျိုးရှိတယ် ပဲ ထားပါဦး။ ဒီလိုရှိရုံနဲ့ ထိပ်ထားက သူ့ကို တံခါး ပိတ် လိုက်ပြီး ပြတ်ပြတ်တောင်းတောင်းကြီး ဆက်ဆံရတော့မှာ တဲ့လား။

ထိပ်ထားဟာ ယောက်ျားတစ်ယောက်မဟုတ်ဘူး မောင်။ မိန်းမသားတစ်ယောက် ဆိုတာကိုလဲ သတိရပါဦး။ ယောက်ျားတစ်ယောက်ဟာ သနားကရုဏာကို ရက်စက် မှုနဲ့ တုံ့ပြန်တတ်ကြပေမယ့် မိန်းမသားတွေကတော့ ဒီလို မတုံ့ပြန်နိုင် ဘူး။ ထိပ်ထားရဲ့ စေတနာဟာ ဘယ်လောက် ဖြူစင်တယ်၊ သန့်ရှင်းတယ်ဆိုတာ ဘုရားသခင်နဲ့ ထိပ်ထား လိပ်ပြာက သိပါတယ်"

ဟယ်လင်မင်းသမီးသည် လှပမိုမောက်သော ရင်အုံ တွင် လက်တင်ကာ ကောင်းကင်ကို မော့ကြည့်လိုက်၏။

"မောင်ဆိုလိုချင်တဲ့သဘောက ဒီလိုပါ ထိပ်ထား။ နားထောင်ပါဦး"

"မောင် ထိပ်ထားကို တကယ်ချစ်တယ်ဆိုရင် သတ္တိရှိရှိနဲ့ လက်ထပ်ပါ။ ထိပ်ထား ကျွန်မတစ်ယောက် လို နေပြပါ့မယ်"

"အို မဖြစ်နိုင်တာ ထိပ်ထားရယ်"

"ဘာလဲ၊ ထိပ်ထားကို မသတီဘူး ဆိုပါတော့" ဟယ်လင်မင်းသမီးက တဟင့်ဟင့်ငိုရှိုက်၍ ပြောလိုက် သည်။

မင်းသားပျိုသည် ဟယ်လင်မင်းသမီးကို ချော့မော့ နှစ်သိမ့်ခြင်း ပြု၏။ သို့ရာတွင် ဟယ်လင်မင်းသမီးသည် လွန်စွာဝမ်းနည်းပူဆွေးလျက် ရှိဟန်ဖြင့် မျက်ရည်တွေတွေ စီးကျလျက်ရှိရာက မိမိနှင့်မင်းသားပျိုတို့အကြား၌ မည်မျှ ကြီးမားသောတံတိုင်းကြီး ကာရံထားစေ တားဆီး၍ရ  တော့မည် မဟုတ်ကြောင်း၊ ယခုကဲ့သို့ ကာမပိုင်ရှိလျက် လည်း လက်ထပ်ကြသောအစဉ်အလာ ရှိခဲ့ဖူးကြောင်း၊ (ထိုခေတ်က ကာမပိုင်ကို ကွာရှင်းပြီး အိမ်ထောင်သစ် ထူသောကိစ္စမျိုးမှာ အရေအတွက်အားဖြင့် မများလှချေ။ သို့ရာတွင် ဟယ်လင်မင်းသမီးကလေးကမူ န ပိုလီယန်၏ အိမ်ထောင်ရေးနှင့် အခြားထင်ရှားသောပုဂ္ဂိုလ်ကြီးများ၏

အိမ်ထောင်ရေးကိစ္စများကို ဥပမာထား၍ ပြောဆိုသွား သည်။) မိမိသည် ပီယာနှင့် အကြောင်းဆက် ပေါင်းဖက် ခဲ့ရသော်လည်း အိမ်ထောင်ရေးသုခကို နည်းနည်းမျှ မရ ရှိခဲ့ကြောင်း၊ အမှန်အားဖြင့် မိမိဘက်က အစစအရာဆုံးရှုံး ခဲ့ရခြင်း ဖြစ်ကြောင်းဖြင့် ပြောပြ၏။

"တရားဥပဒေနဲ့ ဘာသာရေးကလဲ ရှိသေးတယ် ထိပ်ထား" မင်းသားပျိုက ပြောလိုက်၏။ .

"ဒီမှာ မောင်။ တရားဥပဒေနဲ့ ဘာသာရေးဆို တာတွေဟာ လူက လုပ်တဲ့ အရာတွေပါ။ လူက လုပ်တဲ့ အရာတွေကို ဒီပြဿနာမျိုးမှာ အသုံးမချနိုင်ရင် ဒီ အရာ တွေဟာ ဘာအသုံးကျဦးမှာတဲ့လဲ"

မင်းသားပျိုသည် ဤမျှလွယ်ကူရှင်းလင်းလှသော ( အဖြေတစ်ရပ်ကို ရဲရဲဝံ့ဝံ့ မစဉ်းစားခဲ့မိသည့်အလျောက် ဟယ်လင်မင်းသမီး၏ ရှင်းရှင်းပြတ်ပြတ်ရှိလှသော စကား ကိုကြားလိုက်ရသောအခါ များစွာအံ့အားသင့်လျက် ရှိ၏။ ထို့နောက်၌ မင်းသားပျိုသည် ထိုကိစ္စနှင့် ပတ်သက်၍ ယေရှုသခင်အသင်းတော်သို့ အကြံ တောင်းလိုက်လေသည်။

ရက်များမကြာမီ "ကျောက်ကျွန်း" ရှိ ကျေးလက် စံအိမ်တွင် ကျင်းပသော ဟယ်လင်မင်းသမီး၏ ညှေ့ခံပွဲ သဘင်သို့ ယေရှုသခင်အသင်းတော်ဝင် ဒီ၊ ဂျိုဘေး ဆိုသူ ပြင်သစ်လူမျိုးတစ်ဦး ရောက်ရှိလာလေသည်။ ဒီ၊ဂျိုဘေး မှာ အသက် အတန်ငယ်ကြီးပြီဖြစ်၍ နှင်းပွင့်ကဲ့သို့ ဆွတ် ဆွတ်ဖြူသောဆံပင်၊ တောက်ပ နက်မှောင်သော မျက်လုံး တို့ဖြင့် စင်ကြယ်သန့်ရှင်းသော ဥပဓိရုပ်ရှိ၏။ ညှေ့ခံပွဲ ကျင်းပရာ ဥယျာဉ်ထဲ၌ မီးရောင်တို့သည် ဝင်းထိန် တောက်ပလျက်ရှိ၍ ဂီတသံက လည်း ငြိမ့်ညောင်းစွာ ပေါ် ထွက်လျက် ရှိသည်။ ဒီ၊ ဂျိုဘေးသည် ဟယ်လင် မင်းသမီး အား ဘုရားသခင်၏ မေတ္တာတော်၊ ခရစ်တော်၏ မေတ္တာ တော်၊

မယ်တော်မာရီ၏ မေတ္တာတော်နှင့်တကွ ဗရင်ဂျီ သာသနာတော်ကို ဆည်းကပ်ကိုးကွယ်ရခြင်းကြောင့်  လောကီ လောကုတ္တရာနှစ်ဖြာစလုံး၌အကျိုးများပုံကို ပြော ဆိုကာ ဗရင်ဂျီဘာသာသို့ဝင်ရန် ပြောကြားလေသည်။ ဟယ်လင်မင်းသမီးမှာ ဗရင်ဂျီဘာသာ၏ နူးညံ့သိမ်မွေ့ပုံ ကို ပီတိဖြစ်ကာ မျက်ရည်များပင် ဝဲလာလေသည်။ ထို အခိုက် ဟယ်လင်မင်းသမီးနှင့် တွဲကရန် လာရောက်ဖိတ် ကြားခြင်း ပြုသဖြင့် နှစ်ယောက်သား စကားပြတ်သွား ကြလေသည်။ သို့ရာတွင် နောက်တစ်နေ့နံနက်၌ ဒီဘေး သည် ဟယ်လင်မင်းသမီး၏စံအိမ်တော်သို့ လာရောက် ကာ တစ်ယောက်ချင်း တွေ့ဆုံပြန်သည်။ ထိုနောက်၌ကား ဒီ၊ဂျိုဘေးသည် ဟယ်လင်မင်းသမီး၏ စံအိမ်တော်သို့ မကြာခဏ ရောက်လာတတ်လေသည်။

တစ်နေ့၌ ဒီ၊ဂျိုဘေးသည် ဟယ်လင်မင်းသမီး အား ဗရင်ဂျီသုဓမ္မာဇရပ်တစ်ဆောင်သို့ ခေါ်သွားကာ ပလ္လင်တစ်ဆူ၏ရှေ့တွင် ဒူးထောက်ထိုင်စေ၍ ခေါင်းကို လက်ဖြင့် ပွတ်သပ်ပေးလေသည်။ ဤသို့ ဒီ၊ ဂျိုဘေးက မိမိခေါင်းကို လက်ဖြင့် ပွတ်သပ်ပေးခြင်းကို ခံရသည်မှာ မိမိ၏ဝိညာဉ်တွင်းသို့ လတ်ဆတ်သန့်ရှင်းသောလေကို မှုတ်သွင်းပေးလိုက်သကဲ့သို့ ကြည်နူးခြင်းဖြစ်စေသည်ဟု နောင်သောအခါတွင် ဟယ်လင်မင်းသမီးက ပြောပြ၏။ ဒီ၊ ဂျိုဘေးကမူ ဤသို့ ပြုလုပ်ခြင်းသည် ဗရင်ဂျီဘာသာ သို့ ကူးပြောင်းသည့်အတွက် ကျေးဇူးတင်သည့်အထိမ်း အမှတ်ဖြစ်သည်ဟု ဟယ်လင်မင်းသမီးကို ပြောပြလေ သည်။

ခဏကြာလျှင် ရှည်လျားသောဝတ်ရုံကြီးကို ဝတ် ဆင်ထားသည့် ခင်ကြီးတစ်ပါးကို ပင့်လာလေသည်။ ဟယ်လင်မင်းသမီးသည် ခင်ကြီး၏ရှေ့၌ မိမိ၏အပြစ် ကို ထုတ်ဖော်ဝန်ခံ၍ သီလဆောက်ခြင်းပြုရာ ခင်ကြီးက ဟယ်လင်မင်းသမီး၏အပြစ်များကို ခွင့်လွှတ်လိုက်၏။ နောက်တစ်နေ့တွင် ခရစ်တော်၏လက်ဝါးကပ်တိုင်ပါ သော သေတ္တာကလေးတစ်လုံး ဟယ်လင်မင်းသမီးထံ ရောက်ရှိလာပြီး မကြာမီမှာပင် ဟယ်လင်မင်းသမီးအား ဗရင်ဂျီ

ဘာသာဝင်အဖြစ် လက်ခံလိုက်ပြီဖြစ်ကြောင်း၊ ရက် အနည်းငယ်အတွင်း ပုတ် ရဟန်းမင်းကြီးက ဟယ်လင် မင်းသမီးအား တွေ့ဆုံဖူးမြော်ခွင့်ပေးမည် ဖြစ်ကြောင်း၊ ထို့ပြင် ဗရင်ဂျီဘာသာဝင်တစ်ယောက်အဖြစ် အသိအမှတ် ပြုသော စာတမ်းတစ်စောင်ကိုလည်း ပေးအပ်မည် ဖြစ် ကြောင်းဖြင့် သိရလေသည်။

ဤသို့ ဗရင်ဂျီဘာသာသို့ ကူးပြောင်းရန်ပြင်ဆင် ခြင်း၊ ပီတာစဘတ် ရွှေမြို့တော်ရှိ အထက်တန်းလွှာမှ ပုဂ္ဂိုလ်များက မိမိ၏ခြေလှမ်းကို စောင့်ကြည့် နေကြခြင်း၊ ၎င်းတို့ကပင် မိမိ၏အပြုအမူများကို များစွာသိမ်မွေ့ယဉ် ကျေးလှ သော စကားလုံးများဖြင့် ချီးမွမ်းပြောဆိုလျက် ရှိခြင်း၊ ဗရင်ဂျီဘာသာဝင်တစ်ဦး အနေဖြင့် လူသစ်ဖြစ် ကာ ချိုးငှက်ငယ်၏ ဖြူစင်ခြင်းမျိုးရှိသည်ဟု ထင်မှတ် လျက် ရှိခြင်းကြောင့် (ထိုအတွင်း၌ ဟယ်လင်မင်းသမီး ' သည် အဖြူရောင်ဝတ်စုံ များနှင့် အဖြူရောင် ဖဲကြိုးများကို သာ အသုံးပြုသည်။) ဟယ်လင်မင်းသမီး ကလေးသည် ကြည်နူးလန်းဆတ်လျက်ရှိ၏။ သို့သော်လည်း ဟယ်လင် မင်းသမီး သည် ပီယာနှင့်ကွာရှင်းရန် ရည်ရွယ်ချက်ကိုကား မေ့လျော့ခြင်း မရှိချေ။ တစ်ဦး နှင့်တစ်ဦး စဉ်းလဲခြင်းပြိုင် ကြရာ၌ ထုံထိုင်းဉာဏ်နည်းသူက အနပ်လွန်သူကို နိုင် မြဲ ( ထုံးစံဖြစ်သည့်အတိုင်း ဤတစ်ချီ၌ မိမိသည် “လူပါးပုလင်း ထိသည့်” ကိန်း မျိုးကို ကြုံရချေပြီဟု ဟယ်လင်မင်းသမီး ( ယူဆလိုက်လေသည်။ အဘယ်ကြောင့် ဆိုသော် ဗရင်ဂျီ ဘာသာသို့ မိမိအားဝင်ခွင့်ပြုလိုက်ခြင်းသည် ဗရင်ဂျီ သာသနာပိုင် များက ချမ်းသာကြွယ်ဝသော သူဌေးကတော် တစ်ဦးဖြစ်သူ မိမိထံမှ ဗရင်ဂျီ သာသနာရေးဆိုင်ရာ အဆောက်အအုံများ ဆောက်လုပ်ပေးပါမည့်အကြောင်း အလှူခံရန်ပြုလုပ်လိုက်သော အစီအမံဖြစ်သောကြောင့် ပေတည်း။ သို့ရာတွင် ဟယ်လင်မင်းသမီးကလည်း အရှုံး မခံချေ။ အလှူငွေများ ထည့်ဝင်ခြင်း မပြုမီ မိမိ တို့ လင် မယားကွာရှင်းရေးကိစ္စကို ပြီးပြတ်အောင် ဆောင်ရွက်ပေး စေလိုသည်ဟု ဗရင်ဂျီသာသနာပိုင်များကို တိုက်တွန်း လျက် ရှိသည်။ ဘာသာတရားဟူသည် လူ

တို့၏အလိုဆန္ဒ ဟူသမျှကို ဖြည့်တင်းရာ၌ မှန်ကန်လျောက်ပတ်စွာ ဖြည့် တင်းနိုင်အောင် သွန်သင်ညွှန်ကြားသော အဆုံးအမမျှသာ ဖြစ်သည်ဟု ဟယ်လင်မင်းသမီးကလေး ယူဆသည်။ ဤသို့ယူဆသည့်အလျောက် တစ်နေ့တွင် မိမိအား သီလဆေးပေးသူ ခင်ကြီးနှင့် တွေ့ဆုံသည်၌ ဤသို့ ကာမပိုင် ယောကျ်ားရှိလျက်နှင့် ဖောက်ပြားခြင်းအတွက် ဘာသာရေး အရ မည်မျှအပြစ်ရှိသည် မရှိသည်ကို သိလိုကြောင်းဖြင့် လျှောက်ထားလေသည်။

ခင်ကြီးနှင့် ဟယ်လင်မင်းသမီးသည် စံအိမ်တော် ရှိ ဧည့်ခန်းဆောင်ပြတင်းဝအနီး ဆည်းဆာနေရောင် အောက်တွင် ထိုင်နေကြ၏။ ပန်းရနံ့သည် ပြတင်းဝမှ ဝင်ရောက်လာသည်။ ဟယ်လင်မင်းသမီးသည် ဖြူဖွေး အိစက်၍ မို့မောက်သော ရင်အုံနှင့် ဝင်းလက်ချောမွေ့သော ပခုံးသားများကို ဖောက်ထွင်း၍ မြင်ရလုမတတ်ပါးလွှာ သည့်အဖြူရောင်ဝတ်စုံကို ဝတ်ဆင်ထား၏။ ခင်ကြီးကား ဝဝဖိုင့်ဖိုင့်။ စင်ကြယ်ချောမွေ့စွာ ရိတ်သင်ထားသောမေး၊ ကြွံခိုင်သည့်ပါးစပ်ဖြင့် ခန့်ညားသောဥပဓိရုပ်ကို ဆောင် လျက် ရှိ၏ ။ ခင်ကြီးသည် ဖြူဖွေးသောလက်နှစ်ဖက်ကို ဒူးပေါ်တွင်တင်ထားပြီး အနီးတွင်ထိုင်လျက်ရှိသော ဟယ် လင်မင်းသမီး၏အလှကို တစိမ့်စိမ့်ကြည့်ရင်း ဟယ်လင် မင်းသမီး၏အမေးကို ဖြေ၏။ ဟယ်လင်မင်းသမီးသည် မချိပြုံး ပြုံးရာက ခင်ကြီး၏လှိုင်းထလျက်ရှိသော ဆံပင် များနှင့် စင်ကြယ်စွာရိတ်ထားသောမေးကိုကြည့်ကာ စကား စပြတ်ပါစေဟု ဆုတောင်းလျက်ရှိသည်။ သို့ရာတွင် ခင်ကြီးသည် ဟယ်လင်မင်းသမီး၏အလှကို ရှုစားရင်း တရားဦးဟောလျက် ရှိပေသတည်း။

"အိမ်း၊ ဃရာဝါသတည်းဟူသော အိမ်ထောင် သားမွေးခြင်းကိစ္စ၌ တရားတော်၏အကျိုးသက်ဝင်ပုံကို ယုံကြည်ခြင်းမရှိဘဲ ထိုဃရာဝါသအမှုကို ပြုခြင်းသည် ဒုစရိုက်မည်၏လို့ တရားတော်ကဆိုတယ် ဒကာမလေးရဲ့ ။ ဒီတော့ ဒကာမလေးနဲ့ ခင်ပွန်းမြို့စားလေးတို့ နဖူးစာဆုံ ကြပုံကို တရားတော်အလိုနဲ့ ကြည့်ရင်

ဒကာမလေးရဲ့ ခင်ပွန်းမြို့စားလေးပီယာဟာ အယူလွဲသူဖြစ်တယ်။ ဃရာ ဝါသ အမှုကို ပြုခြင်း၌ တရားတော်ရဲ့ အကျိုးသက်ဝင်ပုံကို မယုံကြည်သူ ဖြစ်တယ်။ ဒါ့ကြောင့် မြို့စားလေးခမျာတော့ မကျူးလွန်အပ်သောကံကို ကျူးလွန်မိရှာပြီ။ ကံကြီးထိုက် ရှာပေတော့မှာပဲ။ ဒါပေမဲ့ ဒကာမကလေးကတော့ အယူ လွဲသူ တစ်ယောက်နဲ့ ပေါင်းဖော်ခြင်းအားဖြင့် မည်သို့အပြစ် ရောက်မည်ဆိုတာကို မသိလို့ ပေါင်းဖော်ခဲ့မိခြင်း ဖြစ်တဲ့ အတွက် အပြစ်မရောက်နိုင်ပေဘူးလို့ ယူဆရလိမ့်မယ်။ ဒါကြောင့် ဒကာမလေးတို့နှစ်ဦးရဲ့ လက်ထပ်ထိမ်းမြား ခြင်းဟာ အယူဝါဒချင်း စုံညီတဲ့ နှစ်ပါးစုံထိမ်းမြားခြင်း အရာ မရောက်ပေဘူးဗျ။ သို့သော် ဘယ်လိုပဲဖြစ်စေ ကျွန်တော် ကျွန်မတို့သည် တစ်ဦးကို တစ်ဦး ဇနီးခင်ပွန်း  အဖြစ်ပေါင်းဖော်ကြပါမည်လို့ ကျိန်ဆိုပြီးဖြစ်ကြတဲ့အတွက် နှစ်ဖက်စလုံးက လင့်ဝတ်မယားဝတ် စောင့်ထိန်းကြရမယ့် ဝတ္တရားကတော့ ကျန်ပေသေးတယ်။ ခုတော့ အကြောင်းကြောင်းကြောင့် မယားဝတ်ပျက်ခဲ့ပြီ။ ဒီလို မယားဝတ်ပျက် ခြင်းကြောင့် ဒကာမလေးမှာ ဘယ်လိုအပြစ် သက်ရောက် မလဲ။ ကံကြီးထိုက်မလား၊ ကံငယ်ထိုက်မလား။ အိမ်း ကျုပ်အမြင်မှာတော့ ဒကာမလေးဟာ မကောင်းတဲ့စေတနာ မပါဘဲ ကျူးလွန်ခဲ့မိတဲ့အတွက် ကံထိုက်ခြင်း လိုက်ရင် ကံငယ်ပဲ ထိုက်မယ်ဗျ။ ကံကြီးတော့ မထိုက်နိုင်ပေဘူး။ ဒကာမလေးက သားသမီးရလိုတဲ့ရည်ရွယ်ချက်နဲ့ တစ်ပင် ထူလိုက်ပြီဆိုတာနဲ့ တစ်ပြိုင်နက် ပထမခင်ပွန်းအပေါ်မှာ မယားဝတ်ပျက်လို့ ထွက်မယ့်အပြစ်ဟာ ပပျောက်သွားရ ပေမှာပဲ။ ဒါပေမဲ့ ဒီနေရာမှာ နှစ်ချက်ရှိတယ်ဗျ။ တစ်ချက် ကတော့”

ဤနေရာ၌ ဟယ်လင်မင်းသမီးမှာ ခင်ကြီး၏ရှည် လျားသော တရားဦးကို ငြီးငွေ့လှပြီဖြစ်ရကား ကြား ဖြတ်၍

” ခုဆိုရင် တပည့်တော်မဟာ ဘာသာဟောင်းကို စွန့်ပစ်ပြီး ဘာသာသစ်ထဲသို့ ဝင်ပြီးပါပြီ။ တစ်နည်း အားဖြင့်တော့ မိစ္ဆာအယူကို စွန့်ပြီး အယူမှန်မှာ တည်

နေ ပါပြီ။ ဒီတော့ ဘုရားတပည့်တော်မအဖို့ အရင်တုန်း ကယူခဲ့တဲ့ မိစ္ဆာအယူဝါဒ အရ ပညတ်ထားတဲ့ ပညတ်ချက် များကို ဘာမျှ လိုက်နာနေစရာ မရှိ တော့ဘူး ထင်ပါတယ်။ ဒါကြောင့် သူ့အပေါ်မှာ တပည့်တော်မ ဝတ်ပျက်ခဲ့တာဟာ အရင် ဘာသာဟောင်းအရ ကြည့်ရင် ကံကြီးထိုက်မလား၊ ကံငယ်ထိုက်မလားလို့ သောကဖြစ်စရာ ရှိပေမယ့် ဒီဘာသာဟောင်းကို စွန့်ပစ် ပြီး ဖြစ်တဲ့အတွက် ခု တော့ ဘယ်လိုအပြစ်မှ မရောက်နိုင် တော့ဘူး ထင်ပါတယ်။ မဟုတ်ဘူးလား ဘုရား”

ခင်ကြီးသည် ဟယ်လင်မင်းသမီး၏ပြောင်တင်းလှ သောစကားများကြောင့် အံ့အားသင့်သွား၏။ ဘာသာအယူ ဟောင်းကို စွန့်ပစ်ရာ၌ ဟယ်လင် မင်းသမီး၏လျင်မြန် ပြတ်သားပုံကိုလည်း စိတ်ထဲမှ အံ့ဩမိသည်။ သို့ရာတွင် တရားတော်၏အဆီအနှစ်ကို လေရှည်ကြီးဖြင့် ပြောနေခြင်း ကို မရပ်နိုင်သေးဘဲ ။

“အိမ်း၊ ကောင်းပါလေဗျာ။ သာဓု သာဓု။ ဒကာမ လေးက တရားတော်ရဲ့ သဘောကို ပေါက်လွယ်တယ်ဆိုရင် လ် ဝမ်းသာစရာပေပေါ့”

ခင်ကြီးသည် ပြုံး၍မိန့်ကာ ဒကာမလေးဟယ်လင် မင်းသမီးအား လင်မယားကွာရှင်းရေးတရားကို ဆက်လက် ဟောကြားလျက် ရှိပေသတည်း။

# အခန်း ၇

ဟယ်လင်မင်းသမီးနှင့် ပီယာတို့၏ကွာရှင်းရေးကိစ္စမှာ ဘာသာရေးအမြင် ဖြင့်ကြည့်လျှင် များစွာလွယ်ကူရှင်းလင်း လှသော ကိစ္စတစ်ရပ်မျှသာ ဖြစ် သော်လည်း သာသနာပိုင် များသည် ထိုကိစ္စကို ရွှေနန်းတော်ကြီးမှ ဝင်ရောက်

စွက်ဖက် ခြင်း မပြုနိုင်အောင် အချိန်ဆွဲ၍ အသေးစိတ်စီမံလျက် ရှိ ကြလေသည်။ ဤအချက်ကို ဟယ်လင်မင်းသမီးကလည်း နားလည်သည်။

ထို့ကြောင့် ဟယ်လင်မင်းသမီးသည် မိမိ၏ကွာရှင်း ရေးကိစ္စနှင့်စပ်လျဉ်း၍ ဘာသာရေးဆိုင်ရာ အနှောင်အဖွဲ့ များဝင်ရောက်လာမည်ကို စိုးစဉ်းမျှ စိုးရိမ်ကြောင့်ကြခြင်း မရှိတော့ဘဲ ပတ်ဝန်းကျင်၏အမြင်တွင် တင့်တယ်၍ အကြောင်းပြလှရန်ကိုသာ စိတ်ကူးလျက် ရှိလေသည်။ ဟယ်လင်မင်းသမီးသည် မိမိအပေါ်တွင် များစွာတိမ်းညွတ် လျက်ရှိသော မှူးမတ်ကြီးအား အကဲစမ်းသည့် အနေဖြင့် ပီယာနှင့် ကွာရှင်းပြတ်စဲရရန် မိမိစီစဉ်လျက်ရှိပြီဖြစ် ကြောင်း၊ ထို့ကြောင့် မိမိအား တကယ်ချစ်မြတ်နိုးသည် ဆိုပါက လက်ထပ်ထိမ်းမြားယူရုံသာ ရှိတော့ကြောင်းဖြင့် ဖွင့်ပြောလိုက်သည်။ ကာမပိုင်လင်ယောကျ်ားတစ်ယောက်လုံး ငုတ်တုတ်ကြီးရှိနေသော မိန်းမတစ်ဦးက လက်ထပ်ရန် ပြောင်ပြောင်တင်းတင်း တောင်းဆိုလာသောအခါတွင် မှူးမတ်ကြီးမှာလည်း မင်းသားပျိုကဲ့သို့ အကြီးအကျယ် အံ့အားသင့်လျက် ရှိ၏။ သို့ရာတွင် ဟယ်လင်မင်းသမီး၏ ညှို့ဓာတ်မှာ ပြင်းထန်လွန်းလှရကား ဟယ်လင်မင်းသမီး နှင့် လက်ထပ်ထိမ်းမြားခြင်းသည် ကာမပိုင်မရှိသောအပျို " စင်မိန်းမတစ်ယောက်နှင့် လက်ထပ်ရခြင်းကဲ့သို့ ရှင်းလင်း လွယ်ကူ၍ သဘာဝကျသောကိစ္စတစ်ရပ်လည်း ဖြစ်သည် ဟု ချက်ချင်းထင်မှတ်သွားလေသည်။ ဟယ်လင်မင်းသမီး သည် ဤကိစ္စ၌ တွန့်ဆုတ်ခြင်း၊ အရှက်ကိုငဲ့ကွက်ခြင်း၊ ( လိပ်ပြာမလုံဖြစ်ခြင်းစသည့် အပြုအမူမျိုးကို ပြသလိုက် ပါက အများ၏တံတွေးခွက်တွင် ပက်လက်မျောရတော့ မည်သာ ဖြစ်၏။ ထို့ကြောင့်ပင် ရှက်ဟန်ကိုလည်း မပြ၊ တွန့်ဆုတ်ဟန်ကိုလည်း မဆောင်၊ လိပ်ပြာမလုံဖြစ်ပုံလည်း မပြဘဲ လွန်စွာသဘာဝကျသောအလုပ် တစ်ခုကို ပြုရိုး ပြုစဉ်ပြုလုပ်နေသကဲ့သို့ ၎င်း၏အရင်းနှီးဆုံးသော မိတ်ဆွေ များအား (၎င်းတို့မှာ ပီတာစဘတ်ရွှေမြို့တော်တစ်ခုလုံး ပင် ဖြစ်ပေသည်။) မင်းသား

ပျိုနှင့် မှူးမတ်ကြီးတို့နှစ်ဦး စလုံးသည် မိမိအား လက်ထပ်ထိမ်းမြားရန် ကမ်းလှမ်း လျက် ရှိကြကြောင်း၊ မိမိသည် နှစ်ဦးစလုံးကို ချစ်ခင် မြတ်နိုးကြောင်း၊ တစ်ဦးစိတ် ဆင်းရဲမည်ကို မကြည့်ရက် သဖြင့် အရွေးရခက်လျက် ရှိကြောင်းဖြင့် ပြောဆို လျက် ရှိလေသည်။

ထိုအတောအတွင်း၌ ပီတာစဘတ်ရွှေမြို့တော်တွင် ကောလာဟလတစ်ခု ဖြစ်လျက် ရှိ၏။ ယင်းမှာ ဟယ်လင် မင်းသမီးနှင့် ပီတာတို့ ကွာရှင်းကြမည် ဟူသော သတင်း မဟုတ်ချေ။ လင်ကံမကောင်းသည့် သနားစရာ ဟယ်လင် မင်းသမီးသည် မှူးမတ်ကြီးနှင့် မင်းသားပျိုတို့နှစ်ဦးအနက် မည်သူ့ကို လက်ထပ်ရ မည်ဟု စဉ်းစား၍မရအောင် ဖြစ် နေရရှာသည်ဆိုသည့် သတင်းစကားသာ ဖြစ် လေသည်။ (ပီတာစဘတ် ရွှေမြို့တော်သူ မြို့တော်သားတို့သည် ကွာ ရှင်းပြတ်စဲ ရေးကိစ္စမှာ တရားမဝင်သော ကိစ္စဖြစ်သည့် အလျောက် ထိုကောလာဟလမျိုးကို ပြောလိုကြဟန်မရှိ ဘဲ နောက်ဆက်တွဲကိစ္စမျိုးကိုသာ မြိန်ရေရှက်ရေ ပြော လိုကြ ဟန် တူပါသည်။) ထိုမျှမက ပီတာစဘတ်ရွှေမြို့ တော်သူ ရွှေမြို့တော်သား တို့သည် ဟယ်လင်မင်းသမီး အိမ်ထောင်သစ်ထူထောင်ရေးကိစ္စကို ပြုသင့် မပြု သင့်၊ ဖြစ်နိုင် မဖြစ်နိုင်ကိုလည်း စဉ်းစားပြောဆိုကြခြင်း မရှိဘဲ ထိုနှစ်ဦးအနက် မည်သူ့ကိုရွေးချယ်ခြင်းက အမြတ်ထွက် သည်၊ ထိုကိစ္စကို ရွှေနန်းတော်ကြီးက မည်သို့သဘော ထားနိုင်သည်ဆိုသည်လောက်ကိုသာ ပြောဆိုလျက် ရှိကြ ၏။ ဤ ကိစ္စသည် နှစ်ခြင်းသာသနာတော်လာ မြင့်မြတ် သော အိမ်ထောင်ရေး အစဉ်အလာကို ဆန့်ကျင်ဖောက် ပြန်ခြင်းဟု ယူဆသူများရှိသော်လည်း ၎င်း တို့သည် ထို ပြဿနာကို မည်သို့မျှ ဝေဖန်ပြောဆိုခြင်းမပြုဘဲ ခပ်မဆိတ် သာ နေ လိုက်ကြသည်။ အများစုမှာမူကား ဟယ်လင်မင်း သမီးသည် ဤနှစ်ယောက်၏ သဲသဲမဲမဲ ပိုးပန်းခြင်းကို ခံရသည်မှာ ကံကောင်းလေစွဟုလည်းကောင်း၊ မည်သူ့ကို ရွေးချယ်က ဟယ်လင်မင်းသမီးအဖို့ အကျိုးအမြတ်ထွက် မည်ဟု လည်းကောင်း

ဂဏာန်းတွက်လျက်ရှိကြလေသည်။ ကာမပိုင်လင် အသက်ထင်ရှား ရှိပါလျက် နောက်ထပ် အိမ်ထောင်သစ်ထူ ခြင်းသည် မှားသည် မှန်သည်ဆိုသည့် အချက်ကို ကား ထိုသူများသည် ပြောဆိုခြင်း မပြုကြချေ။ ၎င်းတို့က မှားသည် မှန်သည်ဟု ဆုံးဖြတ်ရန်မှာ သူတို့ အလုပ် မဟုတ်၊ ညီထက် ဉာဏ်အမြော်အမြင်ရှိသူများ ၏ အရာသာ ပြသည်ဟု ပြောဆိုကြလေသည်။ ထိုမျှမက အထက်တန်း လွှာ အသိုင်းအဝိုင်း၌ ထက်မြက်သောမိန်းမ တစ်ဦးဟု ကျော်ကြားသည့်ဟယ်လင် မင်းသမီး၏ အပြု အမူကို မှားသလော၊ မှန်သလောဟု ယုံမှားသံသယရှိခြင်း သည် မိမိကိုယ်ကို မိမိထုံထိုင်းသူ၊ ခေတ်မမီသူဟူ၍ ထုတ်ပြောရာ ရောက်လိမ့်မည်။ ခေတ်ဆန်သော အသိုင်း အဝိုင်း၌ လူတောမတိုး ရာ ရောက်လိမ့်မည်ဟု ၎င်းတို့ စိတ်၌ ထင်မှတ်လျက် ရှိ လေသည်။

ထိုနှစ် နွေရာသီက ပီတာစဘတ်ရွှေမြို့တော်ရှိ သားများထံအလည် ရောက်လာသောမာယာဒီမီထရိယက်ဗ် နာတစ်ဦးသာလျှင် အများကဲ့သို့ သံယောင် မလိုက်ဘဲ ဟောဟောဒိုင်းဒိုင်းကြီး ပြောချလိုက်လေသည်။ မာယာဒီမီ ထရိယက်ဗ် နာသည် ဟယ်လင်မင်းသမီးကို ကပွဲတစ်ခုတွင် မြင်လိုက်မိလေရာ ကပွဲခန်းမ အလယ်ရှိ ဟယ်လင်မင်း သမီးထံ တန်းတန်းမတ်မတ်ကြီး လျှောက်လာခဲ့ပြီး အသံ ဩကြီးဖြင့်

"ခု ကာလကြီးက ကာမပိုင်လင်ကြီး ငုတ်တုတ် ရှိရက်နဲ့လဲ အားမရသေးဘဲ နောက်လင်ယူကြသကိုးတော့။ တူမတော်ကြီးက ဒီပြင်မိန်းမတွေ လိုက်အတုခိုး အောင် ဖက်ရှင်ထွင်လိုက်တာ ထင်ပါရဲ့၊ ဟုတ်စ။ သူများထက် အရင်ဦးအောင် အဆန်းထွင်လိုက်တာပေါ့လေ၊ ဟုတ်စ။ ဒီမယ် တူမတော်၊ ကာမပိုင်ကြီးရှိလျက်နဲ့ နောက်တစ် ယောက်ယူတယ်ဆိုတာက ပြည့်တန်ဆာတန်းလျားမှာ လုပ်တဲ့ အလုပ်မျိုးတော်၊ သိပလား"

'မာယာဒီမီထရိယက်ဗ်နာသည် ဤသို့ ဟောဟော ဒိုင်းဒိုင်း ပြောဆိုပြီး နောက် အဝကျယ်သော အင်္ကျီလက် နှစ်ဖက်ကို ချာခနဲနေအောင် ယမ်းကာ ဆောင့်ဆောင့်  ဆောင့်ဆောင့်နှင့် လှည့်ထွက်သွားလေသည်။

ပီတာစဘတ် ရွှေမြို့တော်သူ ရွှေမြို့တော်သားများ သည် ပြောစရာရှိလျှင် ပက်ပက်စက်စက်ပြောတတ်သော မာယာဒီမီထရိယက်ဗ်နာကို ရွံကြောက်ကြီး ဖြစ်လျက် ရှိ ကြသော်လည်း “ကွာလာ”ပြောတတ်သော မိန်းမကြီးဟု သာမန်မျှ သဘောထားကာ ဗွေယူခြင်း မပြုကြချေ။

ဟယ်လင်မင်းသမီး၏ ခမည်းတော် မင်းသားကြီး ဗာစီလီမှာ ယခုတလော တွင် သတိမေ့တတ်လျက် ပြောပြီး သားစကားကို ထပ်ပြန်တလဲလဲ ပြောတတ်၏။ မင်းသား ကြီး ဗာစီလီသည် သမီးတော် ဟယ်လင်မင်းသမီးနှင့် တွေ့တိုင်း

”သမီးတော်ကို ဖေဖျား တစ်ခုပြောရဦးမယ်” ဟုဆိုကာ သမီးတော်၏လက် ကိုကိုင်လျက် ရှေ့နားသို့ ဆွဲလိုက်၏။ “သမီးတော်ကိစ္စနဲ့ ပတ်သက်လို့ ဖေဖျား တစ်ခုကြားထားတယ်။ အိမ်း၊ ဖေဖျားကတော့ သမီး တော်စိတ်ချမ်းသာတယ်ဆို ရင် အေးလေ သမီးတော်ကြည့် ရတာလဲ စိတ်စက်ကောင်းပုံ မရဘူး။ ဖေဖျား အထွေ အထူး သိပ်မပြောလိုပါဘူးလေ။ အစစအရာရာ သမီးတော် ဘာသာ ရှေ့နောက် စဉ်းစားပေါ့”

မင်းသားကြီး ဗာစီလီသည် စိတ်ကိုချုပ်တည်းကာ စကားကို အဆုံးသတ် လိုက်ပြီးနောက် သမီးတော် ဟယ်လင် မင်းသမီးကို ပါးချင်းအပ်နှုတ်ဆက်၍ ထွက် သွားလေသည်။

ဟယ်လင်မင်းသမီးကဲ့သို့ ထက်မြက်သောမိန်းမ မျိုး၌ ယောက်ျားမိတ်ဆွေ အများအပြားရှိကြရာတွင် အချို့ မှာ သမီးရည်းစားဖြစ်နိုင်သော ယောက်ျား မိတ်ဆွေမျိုး ဖြစ်၍၊ အချို့ကား မိမိနှင့် ဉာဏ်ရည်ချင်းတူနေသောကြောင့်

သမီးရည်းစားသဖွယ် ဆက်ဆံ၍မရသော ယောကျ်ား မိတ်ဆွေမျိုးဖြစ်၏။ ၎င်းတို့ အထဲ၌ သံတော်ဆင့်ဝန်ထောက် ဘီလီဘင်မှာ ဒုတိယအမျိုးအစားဖြစ်သော ယောကျ်ား မိတ်ဆွေမျိုး ဖြစ်၏။ တစ်ခါသော် ဘီလီဘင်နှင့် ဟယ်လင် မင်းသမီး တို့သည် မိတ်ဆွေတစ်ဦး၏ ညေခံပွဲသဘင်တစ်ခု ၌ တွေ့ကြသည်တွင် ဟယ်လင် မင်းသမီး၏ အိမ်ထောင် ရေးနှင့် စပ်လျဉ်း၍ ဘီလီဘင်ကလည်း ၎င်း၏ထင်မြင် ချက်ကို ထုတ်ဖော်ပြောဆိုလေသည်။

"ဘီလီဘင်" ဟယ်လင်မင်းသမီးက လက်စွပ်ဝတ် ထားသော ဖြူဖွေးသည့် လက်ချောင်းကလေးများဖြင့် ဘီ  လီဘင်၏အင်္ကျီလက်ဖျားကို ဆွဲထားလိုက် သည်။ (ဟယ် လင်မင်းသမီးသည် ရင်းနှီးသူများကို နာမည်ရင်းအတိုင်း ခေါ်လေ့ရှိ သည်။) "ထိပ်ထားကို ခေါင်းနင်းဆင်း နှမတော် တစ်ဦးလို ပွင့်ပွင့်လင်းလင်းပြော စမ်းပါ။ သူတို့နှစ်ယောက် အနက် ဘယ်သူ့ကို ထိပ်ထားရွေးချယ်ရမလဲဟင်။"

ဘီလီဘင်သည် နဖူးကိုတွန့်၍ ခပ်ပြုံးပြုံး စဉ်းစား နေသည်။

"ဒီလိုရှိပါတယ် ထိပ်ထား၊ မိတ်ဆွေကောင်းတစ် ယောက်အနေနဲ့ ထိပ်ထား ရဲ့ အိမ်ထောင်ရေးပြဿနာကို အပြန်ပြန်အလှန်လှန် စဉ်းစားခဲ့ပါတယ်။ ကျွန် တော့်အမြင် မှာတော့ ထိပ်ထားဟာ မင်းသားကလေးကိုရွေးရင် သူနဲ့ပဲ သေတစ် ပန် သက်ဆုံး ပေါင်းဖော်ရတော့မယ်။ ထိပ်ထား တစ်သက်မှာ နောက်တစ်ယောက် ကို စဉ်းစားလို့မရတော့ ဘူး။ စဉ်းစားရင် ရွှေနန်းတော်ကြီးကလဲ ငြိုငြင်တော်မူပေ လိမ့်မယ်။ အဲ မှူးမတ်ကြီးကို ရွေးချယ်ရင်တော့ သူက သင်္ချိုင်းကို ခြေတစ်လှမ်း လှမ်းနေပြီဖြစ်တဲ့အတွက် သူ ကွယ်လွန်တာနဲ့ တစ်ပြိုင်နက် တစ်ပင်လဲမှ တစ်ပင် ထူဆို သလို မင်းသားကလေးနဲ့ လက်ဆက်နိုင်တယ်။ သေခါနီး အဘိုးကြီးတစ် ယောက်ကို စိတ်ချမ်းသာမှု ပေးခွင့်လဲ ရ တယ်။ ဒီတော့ သူ့ကို လက်ဆက်ခြင်းဖြင့် ရည်ရွယ်ချက် နှစ်ခုစလုံး ပြီးမြောက်နိုင်မယ်လို့ ဆိုရလိမ့်မယ်ခင်ဗျ"

“အို ဟုတ်လိုက်လေရှင်” ဟယ်လင်မင်းသမီး သည် ဝင်းထိန်သောမျက်နှာဖြင့် ဘီလီဘင်၏အင်္ကျီလက် ဖျားကို ခပ်တင်းတင်းဆွဲထားလိုက်ပြန်သည်။ “ဒါပေမဲ့ ခက်တာက ထိပ်ထားဟာ သူတို့နှစ်ယောက်လုံးကို ချစ် နေတယ် ဘီလီဘင်။ ဘယ်သူ့ကိုမှ စိတ်မချမ်းမသာ မဖြစ်စေချင်ဘူး။ သူတို့နှစ်ဦးစလုံး စိတ်ချမ်းသာဖို့ဆိုရင် ထိပ်ထားရဲ့ အသက်ကို နှင်းအပ်ဖို့လဲ ဝန်မလေးပါဘူး” ဘီလီဘင်သည် ပခုံးကို တွန့်လိုက်ပြီး

”အင်း၊ တော်တော်လဲ တတ်နိုင်တဲ့ မိန်းမပေပဲ။ ငါးရုံ့နှစ်ကောင်တွင် မက ဘူး။ သုံးကောင်စလုံး လက်ထဲ မှာ ဖမ်းထားချင်ဟန် တူရဲ့”ဟု တွေးနေမိသည်။

“နေပါဦး ထိပ်ထား၊ ဒီကိစ္စနဲ့ ပတ်သက်လို့ ထိပ် ထားရဲ့ ကြင်ယာတော်က ကော ဘယ်လိုသဘောထားသလဲ ပြောပြစမ်းပါဦး။ သဘောတူပါ့မလား။ ကြည်ဖြူပါ့မလား”

“အို မောင်မောင့်အတွက်တော့ ထည့်မစဉ်းစား  ပါနဲ့။ မောင်မောင်ဟာ ထိပ်ထားကို အလွန်တရာမြတ်နိုး တာပါ။ ထိပ်သီးအတွက်ဆိုရင် ဘာပဲ လုပ်ရ လုပ်ရ လုပ်မှာပါ”

ဟယ်လင်မင်းသမီးက မိမိအား ပီယာက လွန်စွာ ချစ်မြတ်နိုးသည်ဟု ယူဆ၍ပြောလိုက်သည်။ ဘီလီဘင် သည် ခပ်ရွှန်းရွှန်းပြောရန် ဟန်ပြင်သကဲ့သို့ မျက်ခုံးကို ပင့်လိုက်သည်။

“ချစ်မြတ်နိုးလွန်းတဲ့အတွက် ကွာရှင်းပေးပါ ဆို ရင်လဲ ကွာပေးမယ်ပေါ့၊ ဟုတ်စ”

' ဟယ်လင်မင်းသမီးက ခပ်သောသောကလေး ရယ် လိုက်သည်။

ဟယ်လင်မင်းသမီး အိမ်ထောင်သစ်ထူရေးနှင့်ပတ် သက်၍ ဘဝင်မကျ သူများအနက် မယ်တော်မင်းသမီးကြီး ကူရာဂျီနာလည်း အပါအဝင်ဖြစ်လေသည်။ မယ်တော် ကြီးသည် သမီးတော်ဟယ်လင်မင်းသမီး၏ စန်းပွင့်ခြင်း ကို များစွာမ နာလိုဖြစ်တတ်လေရာ ယခုကဲ့သို့ နောက် အိမ်ထောင်သစ် ထူတော့မည်ဆိုသည် နှင့် တစ်ပြိုင်နက် ( အကြီးအကျယ် မခံမရပ်နိုင်ဖြစ်လျက် ရှိလေသည်။ မယ် တော် မင်းသမီးကြီးသည် ကာမပိုင်လင်ယောကျ်ား အသက် ထင်ရှားရှိစဉ် ထိုယောကျ်ား နှင့် ကွာရှင်းကာ နောက်အိမ် ထောင်သစ် ထူထောင်၍ ဖြစ်မဖြစ်ကို ဘုန်းတော်ကြီး တစ်ပါးထံ သွားရောက်မေးမြန်း လျှောက်ထားဖူး၏။ ထို အခါ ဘုန်းတော်ကြီးက ဤသည်မှာ တရားတော်နှင့် ကိုက်ညီခြင်းမရှိကြောင်းကို ခရစ်ဝင်ကျမ်းမှ အကိုးအ ကား များပြ၍ ပြောလိုက်သဖြင့် အားတက်ပြန်လာခဲ့ဖူးလေ မယ်တော်မင်းသမီး ကြီးအဖို့၌ ဤကိစ္စတွင် သမီး တော်ဘက်က စောဒကမတက်နိုင်တော့ပြီဟု တစ်ထစ်ချ ယူဆထားလိုက်သည်။ ထို့ကြောင့် တစ်နေ့နံနက်၌ သမီး တော်၏စံအိမ် တော်သို့ ကရထားဖြင့် ထွက်လာခဲ့သည်။

သမီးတော်ဟယ်လင်မင်းသမီးသည် မယ်တော် ကြီး၏ကန့်ကွက်ချက်ကို နားထောင်ပြီးနောက် ခပ်လျှောင် လျှောင် ပြုံးလိုက်သည်။

“တရားတော်ထဲမှာတော့ “အသြမိက အရှင် မရှိသောမိန်းမကို လက်ထပ်ထိမ်းမြားခြင်းသည်” ။

“အို မေဖျား၊ သမီးတော်ကို ဒီတရားစကားတွေ ces သည်။

ဘုရားစကားတွေ မပြောစမ်းပါနဲ့။ မေဖျား နားမလည်ပါ ဘူး။ သမီးတော် ထိပ်ထားကိစ္စကို သမီးတော် ထိပ်ထား သိပါတယ်”

ဟယ်လင်မင်းသမီးက မိမိပြဿနာကို ပြင်သစ် ဘာသာဖြင့်ပြောခြင်းက ရှင်းလင်းလွယ်ကူသည်ဟု ယူဆ သည့်အတွက် ပြင်သစ်ဘာသာဖြင့် ပြော

လိုက်၏။

"ဒါပေမဲ့ မေဖျားပြောချင်တာက"

"ဒီမှာ မေဖျား၊ လူသတ္တဝါတို့၏အပြစ်များကို ခွင့်လွှတ်တော်မူတဲ့ အဖ ဘုရားသခင်ရဲ့ အဆုံးအမကို"

ဟယ်လင်မင်းသမီး စကားမဆုံးမီ လက်စွဲတော် ကြီးတစ်ယောက် ဝင်လာကာ မင်းသားပျို ရောက်လာ ကြောင်းဖြင့် ပြောဆိုခြင်း ပြုလေသည်။

"လက်စွဲတော်ကြီး ပြန်ပြောလိုက်စမ်း။ မောင်ဟာ ပြောပြီးသားစကား ပြီးပြီးပျောက်ပျောက်လုပ်တဲ့အတွက် ထိပ်ထား စိတ်ဆိုးနေတယ်လို့၊ ခု မတွေ့နိုင်သေးဘူးလို့"

"ခွင့်မလွှတ်လိုက်၊ ခွင့်မလွှတ်နိုင်တဲ့အပြစ်ရယ်လို့ မရှိပါဘူး ထိပ်ထားရယ်" ။

အသံနှင့်အတူ မျက်နှာသွယ်သွယ် နှာတံပေါ်ပေါ် ဆံပင်ကောင်းကောင်း မင်းသားပျိုတစ်ပါး ဝင်ရောက်လာ လေသည်။

မယ်တော်မင်းသမီးကြီးသည် ယဉ်ကျေးစွာ ခွင့် တောင်း၍ ထလာခဲ့၏။ ခန်းမဆောင်ထဲသို့ ဝင်လာသော မင်းသားပျိုကား မယ်တော်ကြီးကို မြင်ဟန် မတူချေ။ မယ်တော်မင်းသမီးကြီးသည် သမီးတော်ကို ခေါင်းညိတ် နှုတ်ဆက်ကာ အပြင်သို့ ထွက်လာခဲ့လေသည်။

မယ်တော်မင်းသမီးကြီးသည် မင်းသားပျိုကို မြင် လိုက်သည်နှင့် "အိမ်း၊ သမီးတော်ပြောတာလဲ ဟုတ်တုတ် တုတ်ပဲ၊ တို့များ ငယ်ငယ်တုန်းကတော့လဲ ဒီလောက် လာဘ်မမြင်ဘဲကိုး။ ကာလသမီးများ တယ်ပြီး အရှည်မြင် တတ်ပေတာပဲ" ဟု ကျိတ်၍ချီးမွမ်းရင်း ကရထားပေါ်သို့ တက်လိုက်လေသည်။

သြဂုတ် လဆန်းသော် ဟယ်လင်မင်းသမီး၏ ပြဿနာမှာ ပြေလည် သလောက် ရှိနေပေပြီ။ ဟယ်လင် မင်းသမီးသည် မိမိအား များစွာချစ်မြတ်နိုးသည် ဟု ထင် သော ကြင်ရာတော်ပီယာထံသို့ စာတစ်စောင် ရေးလိုက် လေသည်။ ထို စာထဲတွင် မိမိသည် xxxအမည်ရှိ မင်းသား ပျိုတစ်ပါးကို လက်ထပ်ပြီး ဖြစ်ကြောင်း၊ ကမ္ဘာလောက ကြီးတွင် အမှန်ကန်ဆုံး အမွန်မြတ်ဆုံးသော ဘာသာ ဖြစ် သည့် ဗရင်ဂျီဘာသာသို့လည်း ဝင်ရောက်ပြီး ဖြစ်ကြောင်း၊ ထို့ကြောင့် ကွာရှင်းရေးကိစ္စအဝဝကို ပြင်ဆင်ထားစေလို ကြောင်း၊ အကြောင်းစုံကိုမူ ယခုစာ ယူလာသူက ပြောပြ လိမ့်မည် ဖြစ်ကြောင်းဖြင့် ဖော်ပြပါရှိ၏။

"မြင့်မြတ်သော အဖဘုရားသခင်သည် မိတ်ဆွေ ကြီးအား ကူညီ စောင့်ရှောက်ပါစေသတည်း။ သင်၏ မိတ်ဆွေ ဟယ်လင်" ဟု လက်မှတ်ရေးထိုး ထား၏။

ထိုစာသည် ဘိုရိုဒီနိုစစ်မြေပြင်၌ ပီယာရှိနေစဉ် မော်စကိုမြို့ရှိ ပီယာ၏စံ အိမ်တော်သို့ ရောက်နေခဲ့လေ သတည်း။

# အခန်း ၈

ဘိုရိုဒီနိုတိုက်ပွဲပြီးဆုံးခါနီးသော် ပီယာသည် မြတပူကုန်း ပေါ်ရှိ ရေစကီ ခံတပ် အမြောက်တပ်စုမှ ဒုတိယအကြိမ် ပြန်၍ ဆင်းပြေးလာခဲ့ကာ စစ်သားတစ် သိုက်နှင့် အတူ ရိုးကလေးတစ်ခုအတိုင်း ညာဇကိုဗိုရွာဘက်ဆီသို့ ထွက် ပြေးလာခဲ့ သည်။ ညာဇက်ဗိုရွာ ဆေးပေးစခန်းသို့ရောက် လျှင် အိုင်ထွန်းလျက်ရှိသော သွေးကွက်ကြီးများနှင့် အော်ဟစ်ညည်းညူသံများကို စိတ်မချမ်းမြေ့ဖွယ်ရာ တွေ့ မြင်ကြားသိနေရပြန်သည့်အတွက် စစ်သားအုပ်စုကြီးနှင့် ရောနှောကာ ဆက်လက် ထွက်ပြေးလာခဲ့ပြန်သည်။

ယခုအချိန်တွင် ပီယာ၏စိတ်၌ ပြင်းပြစွာတောင့်တ လျက်ရှိသောအရာမှာ တစ်ခုသာ ရှိတော့သည်။ ယင်းကား အခြားမဟုတ်၊ အေးဆေးငြိမ်သက်စွာနေရ သော အရပ် သားတစ်ဦးအနေဖြင့် အိပ်ခန်းထဲရှိ မိမိ၏အိပ်ရာပေါ်တွင် အကြောင့် အကြမရှိ စိတ်ချလက်ချ လှဲအိပ်လိုက်လိုသော ဆန္ဒဖြစ်သည်။ ဤသို့ ပူပင် ကြောင့်ကြခြင်း ကင်းသော အရပ်သားတစ်ဦးအနေဖြင့်သာ မိမိမြင်ခဲ့ကြားခဲ့ရသော အရာများနှင့်တကွ မိမိ၏ဘဝရေ့ရေးကို မိမိ စဉ်းစား သဘောပေါက်နိုင်တော့မည် ဟု ယူဆမိလေသည်။ သို့ရာ တွင် ယခုလို အချိန်မျိုး၌ အပူအပင်အကြောင့်အကြ ကင်း သောဘဝကို အဘယ်မှာ ရနိုင်ပါမည်နည်း။

ပီယာ ထွက်ပြေးလာသည့် လမ်းတစ်လျှောက် တွင် အမြောက်ကျည်ဆန် များ၊ သေနတ်ကျည်ဆန်များ  တရွှေ့ရွှေ့ပျံဝဲခြင်း မရှိတော့သော်လည်း တဝုန်းဝုန်း တဒိုင်း ဒိုင်းပေါက်ကွဲသံများကိုကား အရပ်ရှစ်မျက်နှာမှ ကြားနေရ သေးသည်။ လမ်းပေါ်တွင်လည်း စစ်မြေပြင်မှာကဲ့သို့ပင် အင်အားကုန်ခန်းကာ ဝေဒနာကို ပြင်း စွာခံစားနေရသည့် မျက်နှာများ၊ ကြောက်ရလန့်ရမှန်းမသိတော့ဘဲ ထုံပေပေ ဖြစ်

နေသော မျက်နှာများ၊ သွေးအိုင်ကြီးများ၊ ဖိုးရိုးဖားရား ဖြစ်နေသော စစ်သားဝတ်ရုံကြီးများ၊ ပစ်ခတ်သံများ၊ အလိပ်လိုက် အလိပ်လိုက်ထနေသော ဖုန်လုံးကြီးများနှင့် ညစ်ပတ်နံစော်သောအနံ့များကိုသာ တွေ့ရ၊ ကြားရ၊ မြင်ရ၊ ရှူရှိုက်ရဆဲပင် ဖြစ်သည်။

မိုဇဟော့ရွာဘက်သို့ သွားသော လမ်းအတိုင်း မိုင် အနည်းငယ်သွားမိလျှင် ပီယာမှာ များစွာမောပန်းလှပြီ ဖြစ်ရကား လမ်းဘေးတွင် ပစ်၍ ထိုင်ချလိုက်မိသည်။

အချိန်မှာ ညီအစ်ကိုမသိတသိအချိန် ဖြစ်၏။ သေ နတ်သံများမှာ တဖြည်းဖြည်းဝေးသွားကာ ဖြောက်ဖြောက် သာ ကြားရတော့သည်။ ပီယာသည် တံတောင်ဆစ်ကို မြေကြီးတွင်ထောက်၍ လှဲချလိုက်ရင်း မိမိရှေ့အမှောင် ထဲ၌ တလှုပ်လှုပ်ဖြတ်သွားကြသော မည်းမည်းသဏ္ဍာန် များကို ငေးကြည့်နေမိသည်။ ပီယာစိတ်ထဲတွင် အမြောက် ကျည်ဆန်လုံးကြီးတစ်လုံးသည် ထိတ်လန့်စဖွယ် တရှူးရှူး အော်မြည်ကာ မိမိခေါင်းပေါ်သို့ ကျလာသည်ဟု ထင်မိ ၏။ ထို့ကြောင့် တစ်ကိုယ်လုံး ကြက်သီးတွေ ဖြန်းခနဲ ထကာ ထထိုင်လိုက်သည်။ ဤသို့ဖြင့် ထိုနေရာတွင် ပီယာသည် အချိန်အတော်ကြာကြာ ထိုင်နေမိသည်။ သန်းခေါင်ချိန်လောက်တွင်မူ စစ်သားသုံးယောက်သည် ထင်းများကိုပွေ့၍ အနီးသို့ရောက်လာပြီး မီးဖိုနေကြသည်။

စစ်သားသုံးယောက်သည် ပီယာကို မကြာခဏ လှမ်းကြည့်ရင်း မီးမွှေးလျက်ရှိကြပြီး မီးရှိန်ရသည်နှင့် ပေါင်မုန့်ခြောက်ကိုချေ၍ မုန့်ညက်ကျိုနေကြသည်။ မီးခိုးများနှင့် အတူ မွှေးကြိုင်သောမုန့်ညက်နံ့သည် ပီယာ၏ နှာခေါင်းထဲသို့ တိုးဝင်လာ၏။ ပီယာသည် ထထိုင်ကာ သက်ပြင်းချလိုက်၏။ စစ်သားသုံးယောက်သည် ပီယာကို ဂရုမပြုဘဲ စကားတပြောပြောနှင့် စားနေ၏။

“နောင်ကြီးက ဘယ်ကလဲဗျ။ ဆာရင် မုန့်ညက် ကလေး ဘာလေး လာစား လှည့်ပါလား” စစ်သားတစ်ဦး က ပီယာဆာလောင်မွတ်သိပ်လျက် ရှိခြင်းကို အကဲခတ်  မိဟန်ဖြင့် လှမ်းခေါ်လိုက်၏။

“ဗျာ၊ ကျုပ် ကျုပ်” ပီယာသည် စစ်သားများ နှင့် ပိုမိုရင်းနှီးစွာဆက်ဆံနိုင်ရန် အတွက် မည်သူမည်ဝါ ဖြစ်ကြောင်းကို အမှန်အတိုင်းပြောရန် မသင့်ဟု ယူဆ လိုက်သည်။ “ဗျာ။ ကျွန်တော် အရေးပေါ်စစ်သည်စု တပ်ဖွဲ့ ဗိုလ်တစ်ယောက်ပါ။ ဒါပေမဲ့ ကျွန်တော့် တပ်ဖွဲ့ဝင် တွေတော့ မပါဘူးဗျ။ ဖရိုဖရဲဖြစ်ပြီး ထွက်ပြေးကုန် ပြီ”

. အဲ လာပြန်ပြီကွ တစ်ယောက်” စစ်သားတစ်ဦး က ပြောလိုက်၏။ အခြား တစ်ယောက်ကမူ ခေါင်းကို သွက်သွက်ခါအောင် ယမ်းလျက် ရှိ၏။ ၊ “လာလေဗျာ၊ မုန့်ညက် လာစားပါလား” ပထမ စစ်သားက လှမ်းခေါ်လိုက်ကာ သစ်သား ယောက်မမှာ မုန့်ဖတ်များစင်သွားအောင် လျှာဖြင့်လျက်လိုက်ပြီး ပီယာကို လှမ်း ပေးလိုက်၏။

ပီယာသည် မီးဖိုအနီးတွင် ဝင်ထိုင်လိုက်ကာ ( ဒယ်အိုးထဲမှ မုန့်ညက်ကို ကော်၍ စား၏။ ပီယာသည်' ( အရသာအရှိဆုံးဆိုသည့် အစားအစာများကို စား သောက် ခဲ့ဖူး·ပြီ ဖြစ်သော်လည်း ထိုညက စားသောက်ရသော မုန့် ညက်တစ်ကော် မှာ သူ့တစ်သက်တွင် စားခဲ့ရသည့် အစား အစာများထက် အဆထောင်ပေါင်းများ စွာ အရသာရှိလှ သည်ဟုထင်မိ၏။ ပီယာသည် မုန့်ညက်များကို ယောက်မ နှင့် ကော်ကာ အားရပါးရစားလျက်ရှိစဉ် စစ်သားများ သည် မီးရောင်ဖြာကျလျက်ရှိ သော ပီယာမျက်နှာကို ( အကဲခတ်လျက် ရှိကြလေသည်။

“နောင်ကြီးက ဘယ်ကို သွားမှာလဲ”

”မိုဇဟော့ရွာကို သွားမလို့ပါ”

“နောင်ကြီး ကြည့်ရတာ သူကောင်းမျိုးထဲကနဲ့တူ သဗျ”

“ဆိုပါတော့ဗျာ”

”နာမည်က ဘယ်လိုခေါ်သလဲ”

”ပီယာ ကိရိလစ်ပါ”

“ကဲ ဒါဖြင့် ရှေ့ဆက်ကြဦးစို့ ပီယာ ကိရိလစ်ရေ၊ အတူတူသွားကြတာပေါ့ဗျာ”

ပိန်းပိတ်လျက်ရှိသော အမှောင်ထုကြီးတွင် ပီယာ နှင့် စစ်သားသုံးယောက်သည် မိုဇဟိုရွာဘက်သို့ ဆက်၍. လာခဲ့ကြသည်။

မိုဇဟိုရွာအနီး တောင်ရိုးကလေးပေါ်သို့ ၎င်းတို့ ရောက်သွားသောအခါ၌ လင်းကြက်များတွန်စပြုလေပြီ။ ပီယာတည်းခိုလျက်ရှိသည့် ထမင်းဆိုင်ကလေးမှာ တောင် ခြေတွင် ရှိသော်လည်း ပီယာသည် မေ့လျော့ကာ ထမင်း ဆိုင်ကို လွန်၍ စစ်သားများနှင့် အတူ လိုက်သွားလေ သည်။ ပီယာမှာ သတိမေ့တတ်သူ ဖြစ်သည့်အလျောက် တည်းခိုရမည့်နေရာကို လွန်လာခဲ့ပြီဖြစ်ကြောင်း မသိသေး ချေ။ ရွာထဲတွင် ၎င်း၏ဆရာကို လိုက်ရှာပြီး ထမင်းဆိုင် ဘက်သို့ ပြန်လာသော တပည့်မြင်းထိန်းနှင့် တွေ့တော့မှ တည်းခိုသည့်နေရာကို လွန်လာခဲ့ကြောင်း သတိရလေတော့ သည်။ မြင်းထိန်းသည် အရက်တက်မှုန်တိမှုန်ဝါး အလင်း ရောင်ထဲတွင် ဦးထုပ်ဖြူကြီး တကားကားဖြင့် လျှောက် လာသော ၎င်း၏ဆရာကို ချက်ချင်း မှတ်မိလိုက်၏။

. “သခင်လေး၊ ဘယ်ကို သွားဦးမလို့လဲ။ ကျွန်တော် တို့ဖြင့် ရှာလိုက်ရတာ နှံ့နေပြီခင်ဗျ။ ခု ခြေကျင်လာခဲ့ရ တာလား သခင်လေး”

"ဟော" ပီယာက အာမေဋိတ်သံ ပြုလိုက်၏။ စစ်သားများကလည်း ရပ်လိုက်ကြ၏။

"နောင်ကြီး၊ နောင်ကြီး အဖော်တွေ တွေ့ပလား၊ ကဲ ဒါဖြင့် နေရစ်ခဲ့ပေတော့ဗျို့။ ကျုပ်တို့တော့ ခရီးဆက် ရဦးမယ်"

"ကဲ နောင်ကြီး သွားပြီဗျို့" အခြားတစ်ယောက် က ပီယာကို လေးစားစွာ နှုတ်ဆက်သည်။

"အေးဗျာ၊ သွားကြပေတော့" ပီယာသည် မြင်း ထိန်းနှင့် အတူ တည်းခိုရာ ထမင်းဆိုင်ဘက်သို့ ပြန်လာခဲ့ သည်။

"သော် ငါ့နှယ် သူတို့ကို ငွေစကလေး ဘာကလေး ပေးလိုက်ရ ကောင်းမှာ" ပီယာသည် သတိရကာ အိတ် ကပ် များကို စမ်းကြည့်သည်။ နောက်ဆုံး၌ 'အေး လေ၊ မေ့သွားတာကိုး။ ဘယ်တတ်နိုင်တော့မလဲ"ဟု ကိုယ့်စိတ် ကို ဖြေရသည်။

င်တွင်ကား အခန်းလွတ်မရှိ တည်းခိုရာထမင်းဆိုင်တွင်ကား အခန်းလွတ်မရှိတော့ချေ။ အခန်းအားလုံး တည်းခိုသူတွေ ပြည့်နှက်လျက် ရှိပေပြီ။ ပီယာသည် ရှေ့ ကွက်လပ်တွင် ရပ်ထားသော ကရထားပေါ်သို့ တက်ကာ စောင်ကို ခေါင်းမြီးခြုံ၍ အိပ် လိုက်လေသည်။

# အခန်း ၉

ခေါင်းအုံးပေါ်တွင် ခေါင်းချ၍ မပျော်တစ်ဝက် ပျော်တစ် ဝက်ဖြစ်နေချိန်တွင် တဝုန်းဝုန်း တဒိုင်းဒိုင်း ပေါက်ကွဲသံ များ၊ အမြောက်ဆန်များ တအုန်းအုန်းကျလာသံများ၊ အော် ဟစ်ညည်းညူသံများကို ကြားရသည်ဟု လည်းကောင်း၊ သွေးညှီနံ့များနှင့် ယမ်းနံ့များကို ရှုရှိုက်ရသည်ဟုလည်း ကောင်း ပီဟုစိတ်ထဲတွင် ထင်လိုက်

မိကာ ဇောချွေးတွေ ပြန်လာလေသည်။ ပီယာသည် ကြောက်အားလန့်အားဖြင့် မျက်လုံးကို ဖွင့်ကာ စောင်ကို လှပ်လိုက်သည်။ ထမင်း ဆိုင်ရှေ့ ကွက်လပ်တစ်ခု လုံးမှာ တိတ်ဆိတ်လျက်ရှိ၏။ စစ်သားတစ်ဦးသည် ရှံ့ဗွက်ထဲတွင် တစွက်စွက် ဖြတ် လျှောက်လာပြီး ထမင်းဆိုင်ရှင်နှင့် စကားပြောနေသံကို ကြားရ၏။ ပီယာ၏လှုပ်ရှားသံကြောင့် ထမင်းဆိုင်အဖီ မိုးပေါ်ရှိ ခိုတစ်အုပ်သည် "အတောင်တဖျတ်ဖျတ်ခတ်၍ ထပျံကြ၏။ ထမင်းဆိုင်ဝင်းတစ်ဝင်းလုံး၌ မြင်းဇောင်းမှ အနံ့များ တသင်းသင်းထွက်လျက်ရှိပေရာ ပီယာသည် ဤအချိန် ဤအခါ၌ ဤရနံ့များကို ရှူရှိုက်လိုက်ရသဖြင့် များစွာကြည်နူး၍ သွားလေသည်။ ကြည်လင်၍ ကြယ် ပွင့်တို့ ဝင်းလက်နေသော ကောင်းကင်ကြီးကို အဖီမိုး နှစ်ခုကြားမှ မြင်ရ၏။

"အင်း၊ ပစ်သံ ခတ်သံတွေတော့ မကြားရတော့ ဘူး' ပီယာသည် ပြန်လှဲကာ ခေါင်းမြီးခြုံ၍ အိပ်ပြန် သည်။ ကြောက်လန့်မှု ဟာတယ်လို့လဲ ဆိုးရွားလှပါ ကလား၊ ငါဟာ ကြောက်လန့်မှုကို လက်မြှောက်အရှုံးပေး ခဲ့ရပြီ။ ရှက်တော့ ရှက်စရာပဲ။ သူတို့များကျတော့လဲ တစ်ချိန်လုံး ဘာမှ အကြောက်အလန့် မရှိဘူးနော်" ဟု ပီယာသည် မပျော်တစ်ဝက် ပျော်တစ်ဝက်ဖြင့် ဆက်၍ တွေးနေ၏။

"သူတို့" ဆိုသည်မှာ စစ်သားများကို ဆိုလိုခြင်း ဖြစ်ပေသည်။ ရှေ့စကီ တောင်ကုန်းပေါ်တွင် တွေ့ခဲ့ရသော - အမြောက်တပ်စုမှ တပ်သားများ၊ သူ့အား မုန့်ညက်တစ် ကော်ပေးခဲ့သော တပ်သားများ၊ ဆင်းတုတော်ရှေ့တွင် အေးအေးဆေးဆေး ဆုတောင်းခဲ့ကြသော တပ်သားများကို ဆိုလိုခြင်း ဖြစ်ပေသည်။ မိမိနှင့် တစ်ခါမျှ မသိခဲ့ဖူးသော အံ့ဩစရာကောင်းသည့် "သူတို့" တစ်တွေသည် ပီယာ၏ မျက်စိထဲတွင် တစ်ယောက်ပြီးတစ်ယောက် အထင်းသား ပေါ်လာကြကုန်သည်။

"အင်း၊ လူတစ်ယောက်ဟာ စစ်သားတစ်ယောက် ဖြစ်လာဖို့အတွက် အသိုက်အအုံနဲ့ နေတဲ့ဘဝကို လုံးလုံး လျားလျားကြီး နစ်မြှုပ်လိုက်ဖို့ လိုတယ်။ သူ့မှာ စစ်သား တစ်ယောက်ဖြစ်အောင် အထက်က ပုံသွင်းထားတဲ့စိတ် ကလွဲလို့ တခြား ဘာစိတ်မှမရှိဖို့လိုတယ်။ ငါဟာ သာမန် အရပ်သားတစ်ယောက်ရဲ့ အပိုအလုပ်တွေ၊ အပိုတာဝန် တွေကို ဘယ်လိုများ စွန့်ခွာချရပါ့မလဲ။ ငါဟာ ဒီအပိုတာဝန်တွေ၊ အပေါ်ယံအလုပ်တွေကို စွန့်လွှတ်ဖို့ အခွင့် အရေးရခဲ့လျက်နဲ့ မစွန့်လွှတ်နိုင်ခဲ့ဘူး။ ငါဟာ ခမည်းတော် ရဲ့ ဩဇာအာဏာစက်အောက်က ရုန်းထွက်နိုင်ခဲ့လျက်နဲ့ ရုန်းထွက်ခြင်း မပြုနိုင်ခဲ့ဘူး။ ဒီလိုကော့ဗ်နဲ့ နှစ်ယောက် ချင်းချိန်းသတ်ပြီးတဲ့နောက် စစ်ထဲကိုဝင်မယ်ဆိုရင် ဝင်ဖို့ အခွင့်အရေးရလျက်သားနဲ့ မဝင်နိုင်ခဲ့ဘူး။ ငါ ညံ့တာပဲ"

ပီယာသည် ခေါင်းမြီးခြုံ၍ လှဲရင်း စဉ်းစားနေသည်။ အင်္ဂလိပ်ကလပ် ညစာစားပွဲ၌ ဒိုလိုကော့ဗ်အား နှစ်ယောက် ချင်း ချိန်းသတ်ရန် စိန်ခေါ်ခဲ့ပုံကို မြင်ယောင်လာသည်။ တော့ဇောစခန်း၌ ဥပဇ္ဈာယ်ဆရာနှင့်တွေ့ခဲ့ပုံကို မြင်ယောင် လာသည်။ ညီအစ်ကိုတော်ဂိုဏ်းသို့ အခမ်းအနားဖြင့် ဝင်ခဲ့ပုံကို အမှတ်ရလာသည်။

"အင်း၊ ငါ့ဥပဇ္ဈာယ်ဆရာတော့ သေရှာပြီ။ မရှိ ရှာတော့ဘူး။ ခုနေ ငါ့ဆရာများရှိရင် ဘယ်လောက်ကောင်း မလဲနော်" ဟု တောင့်တမိသည်။

ထို့နောက် အင်္ဂလိပ်ကလပ် ညစာစားပွဲ၌ သူ့အနီး တွင် အနာတိုလီ၊ ဒိုလိုကော့ဗ်၊ နက်ဗစ်စကီ၊ ဒင်နီဆော့ဗ် စသူတို့ ထိုင်နေပုံကို မြင်ယောင်လာပြန်သည်။ အနာတိုလီ နှင့် ဒိုလိုကော့ဗ်တို့ တစ်ယောက်နှင့် တစ်ယောက် အော်ကြီး ဟစ်ကျယ် စကားပြောဆိုနေကြသည်ကို ကြားယောင်လာ သည်။ ၎င်းတို့ပြောသံတွေကြားထဲမှ ဥပဇ္ဈာယ်ဆရာ၏ စကားသံသည် စစ်မြေပြင်တွင် တရစပ်မြည်နေသော သေနတ်သံများကဲ့သို့ အစဉ်အမြဲကြားနေရသည်။ ဥပဇ္ဈာယ် ဆရာ၏စကားသံကို

ကြားယောင်နေရခြင်းသည် စိတ်ချမ်း မြေ့မှုကို ရစေသည်။ ပီယာသည် ဥပဇ္ဈာယ်ဆရာပြောနေ သော စကားသံများကို သဲသဲကွဲကွဲ ကြားရခြင်း မဟုတ်သော်လည်း မင်္ဂလာရှိသောစကားကို ပြောဆိုနေခြင်း ဖြစ်ကြောင်း သိသည်။ သူ့ဆရာ၏ဘေး၌ သူတို့သည် ရိုးသားကြင်နာ၍ တည်ကြည်ပြတ်သားသော မျက်နှာများ ဖြင့် ဝိုင်းထိုင်နေကြသည်။ “သူတို့” သည် ရိုးသားကြင်နာ ကြသော်လည်း ပီယာကိုလည်း မကြည့်၊ သတိလည်း မထားကြချေ။ ပီယာသည် “သူတို့” နှင့် စကားပြောလို သဖြင့် ထလိုက်သည်တွင် အိပ်ရာမှ နိုးလာလေသည်။ ၎င်း၏ခြေထောက်များမှာ စောင်မရှိတော့ဘဲ အေးစက် လျက်ရှိလေပြီ။

ပီယာသည် အစွဲအလမ်းကြီးလှသော မိမိအဖြစ် ကို တွေး၍ ရှက်ကာ ခြေထောက်များကို စောင်ဖြင့် ထွေး လိုက်သည်။ ခြေထောက်များကို စောင်ဖြင့် ပတ်နေတုန်း လက်တွင် ခြုံထားသည့် ဝတ်ရုံအင်္ကျီက လျှောကျသွားပြန် သည်။ ထို့ကြောင့် ပီယာသည် ကိုယ်အထက်ပိုင်းကို ဝတ်ရုံအင်္ကျီဖြင့် ဖုံးလိုက်ပြီးနောက် မျက်လုံးများကို ဖွင့် လိုက်၏။ ထမင်းဆိုင်အဖီမှ အမိုးများ၊ တိုင်များနှင့် တကွ ထမင်းဆိုင်ရှေ့ကွက်လပ်ကို မြင်ရသည်။ ပတ် ဝန်းကျင်သည် ပြာနှမ်းနှမ်းအရောင်ကို ဆောင်ကာ လင်း တစ်ဝက် မှုန်တစ်ဝက်ဖြစ်လျက်ရှိပြီး နှင်းစက် နှင်းသီး တို့ဖြင့် တောက်ပလျက် ရှိသည်။

“အလို၊ အရုဏ်တောင် လာပါပေါ့လား။ အေးလေ။ ( အရုဏ်လာတာ မလာတာက အရေးမကြီးပါဘူး။ ခုနေ ငါ့ဆရာရဲ့ စကားတွေကို ကြားချင်နေတာက ခက်တယ်” ဟု ပီယာ တွေးမိသည်။ ပီယာသည် ဝတ်ရုံအင်္ကျီကြီးကို ကိုယ်ပေါ်သို့ လွှမ်းလိုက်သည်။ ဤတစ်ကြိမ် ပြန်၍အိပ် သည့်အခါတွင်မူ ညီအစ်ကိုတော်ဂိုဏ်းဝင်တို့၏ ဘုံအိမ်ကို လည်းကောင်း၊ ဥပဇ္ဈာယ်ဆရာကို လည်းကောင်း မမြင် ရတော့ချေ။ သို့ရာတွင် ၎င်း၏နားထဲ၌ စကားပြောသံ များကို သဲကွဲစွာကြားနေရ

သည်။ ထိုစကားပြောသံမှာ သူကိုယ်တိုင် စကားပြောသံလိုလို၊ အနီးတွင် တစ်စုံတစ် ယောက်က ပြောနေသလိုလို ထင်ရသည်။

နောက်တွင် ပြန်၍စဉ်းစားသည့်အခါ၌မူ ပီယာ သည် ထိုစကားများကို မိမိကိုယ်တိုင် အိပ်မက်ထဲတွင် ပြောဆိုခဲ့ကြောင်း သိရလေသည်။ အိပ်မက်ထဲတွင် ပြော ဆိုခြင်းဖြစ်သော်လည်း ထိုအတွေးများမှာ ဝိုးတိုးဝါးတား မဟုတ်ဘဲ ပြတ်သားကြည်လင်လှပေ၏။ အိပ်မပျော်သည့် အချိန်မှာပင် ဤမျှလောက် ကြည်လင်ပြတ်သားသော အတွေးများကို တွေးနိုင်သည်ဟု ပီယာမထင်ချေ။

"စစ်တိုက်ခြင်းအလုပ်ဟာ လူ့လွတ်လပ်မှုဟူသမျှ ကို ဘုရားသခင်ထံမှ အဆုံးခံပြီး ဝကွက်အပ်လိုက်ရတဲ့ အလုပ်ပဲ။ စစ်သားရယ်လို့ ဖြစ်လာရင် ရိုးသား ဖြောင့်စင်း ရတယ်။ ရိုးသားဖြောင့်စင်းခြင်းဟာ ဘုရားသခင်ရဲ့ အလို တော်ကို လိုက်နာခြင်း ဖြစ်တယ်။ စစ်သားဟာ ဘုရားသခင် ရဲ့အလိုတော်က ကင်းလွတ်ပြီး နေလို့ မရပေဘူး။ ဟော ကြည့်၊ ငါတွေ့ခဲ့ရတဲ့ စစ်သားတွေဟာ ရိုးသားတယ်။ ဖြောင့်စင်းတယ်။ သူတို့ဟာ စကားမပြောကြဘူး။ အလုပ် ကိုပဲ လုပ်ကြတယ်၊ ပြောသောစကားသည် ငွေတန်၍၊ မပြောသောစကားသည် ရွှေတန်၏လို့ ဆိုတယ် မဟုတ် လား။ လူဟာ သေခြင်းတရားကို ကြောက်ရွံ့နေသမျှ ကာလပတ်လုံး ဘယ်အရာကိုမှ အောင်မြင်နိုင်မယ် မဟုတ် ဘူး။ သေခြင်းကို မကြောက်တဲ့သူကတော့ အစစအရာရာ ကို အောင်မြင်ပေတာပဲ။ လောကမှာ ဒုက္ခဝေဒနာရယ် လို့ မရှိရင် လူတွေဟာ သူတို့ရဲ့ အချုပ်အနှောင်တွေကို နားလည်မှာလဲ မဟုတ်ဘူး။ ကိုယ့်အကြောင်းကိုလဲ သိမှာ မဟုတ်ဘူး။ လောကမှာ အခက်ခဲဆုံးအရာကတော့ အရာ အားလုံးရဲ့ အနက်အဓိပ္ပာယ်ကို ပေါင်းစည်းနားလည်ဖို့ပဲ ဖြစ်တယ်။ အေး လေ၊ အရာအားလုံးကို ပေါင်းစည်းနား လည်ဖို့ဆိုတာလဲ သိပ်တော့ မဟုတ်သေးပါဘူး။ အတွေး အခေါ်တွေ အားလုံးကို နဖားကြိုး တပ်ဆင်ပေးဖို့ပဲ။ ဟုတ်တယ်။ လူရဲ့အတွေးအခေါ်တွေကို နဖားကြိုးတပ်ပြီး လူတွေအတွက် အသုံးချပေးရမယ်"

ထိုစကားလုံးများသည် မိမိပြောလိုသော အဓိပ္ပာယ် နှင့် အကိုက်ညီဆုံး ဖြစ်သည်ဟု ယူဆကာ ပီယာသည် ကြည်နူးလျက် ရှိလေသည်။

"ဟုတ်တယ်၊ အတွေးအခေါ်တွေကို မြင်းများမှာ ကြိုးကပေးသလို ကပြီး ကိုယ်လိုရာကို စေခိုင်းရမယ်။ မြင်းတွေကို ကြိုးကသလို ကပေးရမယ်" ။

"မြင်းတွေကို ကလိုက်ရတော့မလား သခင်လေး။ မြင်းတွေကဖို့ အချိန်တော်ပြီ ထင်ပါတယ်" ။

အသံတစ်သံကို ကြားလိုက်ရ၏။ ထိုအသံကား ပီယာကို နှိုးလျက်ရှိသော မြင်းထိန်း၏အသံပေတည်း။ နေရောင်သည် ပီယာမျက်နှာပေါ်သို့ တည့်တည့်ထိုး ကျ လျက် ရှိ၏။ ပီယာသည် ညစ်ပတ်ပေရေလှသော ထမင်း ဆိုင်ရှေ့ ကွက်လပ်ကို လှမ်းကြည့်လိုက်သည်။ လှည်းများ သည် တစ်စီးပြီးတစ်စီး ထွက်သွားကြကာ စစ်သားအချို့ သည် ၎င်းတို့၏ပိန်လှီသောမြင်းများကို ရေအိုင်တွင် ရေတိုက်လျက် ရှိကြ၏။ ပီယာသည် မျက်နှာကိုလွှဲကာ မျက်လုံးများကို မှိတ်လိုက်သည်။

"အင်း ဒါတွေအားလုံးဟာ အနိဋ္ဌာရုံတွေပဲ။ ဒီ အနိဋ္ဌာရုံတွေအားလုံးကို ငါ မ မြင်ချင်ဘူး။ အိပ်မက်ထဲ မှာတွေ့ရတဲ့ ဣဋ္ဌာရုံတွေကို ငါ မြင်ချင်လိုက်ပါဘိ။ ( အတွေးအခေါ်တွေကို နဖားကြိုးတပ်ရမယ်ဆိုပေမယ့် ငါ ဘယ့်နှယ်လုပ် နဖားကြိုး တပ်ရပါ့မလဲ။ ငါ ဘာလုပ်ရမလဲ။ ဒီလောကကြီးပေါ်က ဒီအနိဋ္ဌာရုံတွေ ပျောက် သွားအောင် ငါ ဘာလုပ်ရမလဲ"

ထိုအနိဋ္ဌာရုံများကို မြင်လိုက်ရသည့်အခါ၌ ခပ် စောစောက အိပ်မက်ထဲတွင် တွေ့မြင်ခဲ့ရသည့် ဣဋ္ဌာရုံ များသည် ပျောက်ကွယ်သွားကြပြန်သည်။

မြင်းထိန်းရထားသမားနှင့် ထမင်းဆိုင်ရှင်တို့က ပြင်သစ်တပ်များသည် မိုဇ ဟေ့ရွာအနီးသို့ ရောက်လာကြပြီ ဖြစ်ကြောင်း၊ မိမိတို့တပ်များသည် ဆုတ်ခွာနေ

ကြပြီ ဖြစ်ကြောင်းဖြင့် ပြောပြကြ၏။

ပီယာသည် အိပ်ရာမှထကာ မိမိမှာ ခြေကျင်သွား နှင့်မည်ဖြစ်ကြောင်း၊ မြင်းများကို က၍ နောက်မှ လိုက် လာခဲ့စေလိုကြောင်း ပြောကြားကာ ထွက်လာခဲ့လေသည်။

ရုရှားစစ်တပ်များသည် ဒဏ်ရာရသူတစ်သောင်း ခန့်ကို စွန့်ကာ ဆုတ်ခွာလျက် ရှိကြ၏။ မိုဇဟော့တစ်ရွာ လုံးကား ဒဏ်ရာရသူများဖြင့် တင်းကြမ်းပြည့်လျက် ရှိ သည်။ ကွက်လပ်များ၊ လမ်းမများ၌ ဒဏ်ရာရသူတို့ အတုံးအရုံးလဲကျ စုပုံလျက်ရှိ၏။ ဒဏ်ရာရသူများ၏ အော်ဟစ်ညည်းညူသံ၊ ၎င်းတို့ကို စွန့်ပစ်ခဲ့သဖြင့် ဆဲရေး သံတို့သည် ဆူညံလျက် ရှိ၏။ ပီယာသည် မိမိရထား ရောက်လာသည်နှင့် တစ်ပြိုင်နက် ဒဏ်ရာရသူ စစ်ဗိုလ်ချုပ် တစ်ဦးကို တင်ကာ မော်စကိုမြို့သို့ ထွက်လာခဲ့လေသည်။

မော်စကိုမရောက်မီ လမ်း၌ မိမိ၏ယောက်ဖအနာတိုလီနှင့် မိမိ၏ရောင်းရင်း မင်းသားကလေးအင်ဒရေတို့ ကျဆုံး သွားပြီဟူသော သတင်းကို ကြားရလေသတည်း။

# အခန်း ၁၀

ပီယာသည် ဩဂုတ်လ ၃၀-ရက်နေ့တွင် မော်စကိုမြို့သို့ ရောက်၏။ မြို့တံခါးဝသို့အရောက်၌ မြို့ဝန် ရော့စတော့ ချင်၏တပ်ရေးနှင့် တွေ့လေသည်။

"အလို မြို့စားလေးပါလား။ အခန့်သင့်လိုက်လေ ဗျာ။ ကျွန်တော်တို့ မြို့စားလေးကို လိုက်ရှာနေကြတာဗျ။ မြို့ဝန်မင်းက မြို့စားလေးနဲ့ သိပ်တွေ့ချင်နေ

တယ်။ အရေး ကြီးတဲ့ကိစ္စရှိလို့ အမြန်လာခဲ့ပါလို့လဲ မြို့ဝန်မင်းက အမှာ တော်ရှိ လိုက်တယ် ခင်ဗျ”

ပီယာသည် မိမိ၏စံအိမ်သို့ပင် မသွားတော့ဘဲ ရထားတစ်စီးဖြင့် မော်စကို မြို့စောင့်တပ်၏ စစ်ဦးစီးချုပ် ဖြစ်သူ မြို့ဝန် ရော့စတောချင်ထံ လာခဲ့လေသည်။

မြို့ဝန် ရော့စတော့ချင်သည် ဆိုကိုနီကီဒေသရှိ နွေ ရာသီ စံအိမ်သို့ သွားရောက်နေထိုင်လျက်ရှိရာ ယနေ့ နံနက်တွင်မှ မော်စကိုသို့ ပြန်ရောက်လာ ခြင်း ဖြစ်၏။ မြို့ဝန်၏စံအိမ်ဧည့်ခန်းထဲ၌ အမိန့်တောင်းခံရန်လာသူများ၊ ဆင့်ဆို ထားသူများဖြင့် ပြည့်နှက်လျက် ရှိ၏။ ဗိုလ်ချုပ် ဗာဆီချီကော့နှင့် ဗိုလ်ချုပ် ပလာ တော့ဗ်တို့သည် မြို့ဝန် ရော့စတော့ချင်နှင့် တွေ့ဆုံကာ မော်စကိုမြို့မှ ခုခံတိုက် ခိုက်၍ မဖြစ်နိုင်တော့ကြောင်း၊ မော်စကိုမြို့ကို ရန်သူ့ လက်သို့ အပ်လိုက်ရတော့ မည်ဟူသော သတင်းကို ဖုံးဖိ၍ ထားသော်လည်း မင်းမှုထမ်းများ၊ ဘုရင့်အစိုးရ ဌာနအကြီး အကဲများကမူကား မော်စကိုမြို့သည် မကြာမီ ရန်သူ့ လက်တွင်းသို့ ကျရတော့မည်ဖြစ်ကြောင်းကို မြို့ဝန်မင်း သိသကဲ့သို့ပင် သိထားပြီးဖြစ်ကြလေ သည်။ ထို့ကြောင့် ၎င်းတို့သည် မိမိတို့တွင် တာဝန်မရှိစေရန် အစိုးရဌာန များကို မည်သို့မည်ပုံ ကြပ်မတ်ကွပ်ကဲရမည် ဖြစ်ကြောင်း မြို့ဝန်မင်းထံ လာရောက်၍ အမိန့်တောင်းခံလျက် ရှိကြ၏။

မြို့ဝန်၏စံအိမ်တော် ဧည့်ခန်းထဲသို့ ပီယာရောက် သွားသည်နှင့် တစ်ပြိုင်နက် တပ်မတော်စစ်ဦးစီးဌာနချုပ်မှ ဆက်သားတစ်ဦးသည် မြို့ဝန် မင်း၏သီးသန့်ခန်းဆောင်ထဲ မှ ရေးကြီးသုတ်ပျာ ထွက်လာလေသည်။

ဧည့်ခန်းထဲသို့ အရောက်၌ တပ်ဗိုလ်သည် မိမိ အား ဝိုင်းဝန်းနှုတ်ဆက် မေးမြန်းကြသူများကို နှုတ်ဖြင့်ပင် ပြန်ကြားခြင်း မပြုနိုင်တော့ဘဲ စိတ်ပျက် လက်ပျက်ဖြင့်  လက်ကိုခါယမ်းကာ ခန်းဆောင်အပြင်သို့ ထွက်သွားလေ သည်။

ပီယာသည် ဧည့်ခန်းတွင် ထိုင်လျက် ပင်ပန်းနွမ်း နယ်လျက်ရှိသော မျက်လုံးများဖြင့် ရွှေမြို့တော်အရာရှိ ကြီးငယ်များ၊ တပ်မတော်အရာရှိများကို လှမ်းကြည့်နေ သည်။ ၎င်းတို့အားလုံးသည် ဒေါသထွက်လျက် ရှိပုံရ၏။ ပီယာသည် လူတစ်စုထဲ၌ မိမိအသိတစ်ယောက်ကို လှမ်း မြင်လိုက်သဖြင့် ထလာခဲ့သည်။ ထိုမိတ်ဆွေသည် ပီယာ ကို နှုတ်ဆက်ပြီးနောက် ဆက်၍ စကားပြောနေသည်။

“ခု စောစောစီးစီးက လွှတ်ထားပြီး နောက်မှ ပြန်ခေါ်တန် ခေါ်ရင် ကိစ္စမရှိဘူးဗျ။ ဒါပေမဲ့ ခုလို တောင် မရောက် မြောက်မရောက်နဲ့တော့ ကျုပ်တို့လဲ တာဝန်မယူ ရဲဘူး”

“ဗျာ၊ ဒါကတော့ မြို့ဝန်ကိုယ်တိုင် ရေထားတာ ကပ်” တစ်ယောက်က လက်ထဲတွင်ကိုင်ထားသည့် ပုံနှိပ် စာရွက်တစ်ရွက်ကို ထောင်ပြလိုက်၏။

“အဲဒါက ဘာလဲဗျ”

”နောက်ဆုံးထုတ်တဲ့ ကြော်ငြာစာလေဗျာ”

ပီယာသည် မြို့ဝန်၏ ကြော်ငြာစာကို လှမ်းယူ၍ ဖတ်နေသည်။

“စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ် သည် စစ်မြေသို့ ချီတက်လာသော တပ်တော်များနှင့် တွေ့ ဆုံရန်အတွက် မိုဇဟော့ရွာကို ဖြတ်၍ ချီတက်ကာ ရန်သူ တို့ ရုတ်တရက်တိုက်ခိုက်ခြင်း မပြုနိုင်သော စခန်းတစ်ခု ၌ အခိုင်အမာတပ်စွဲပြီး ဖြစ်သည်။ အမြောက်မြတပ်ပူလေး ဆယ့်ရှစ်လက်နှင့် ခဲယမ်းမီးကျောက် အမြောက်အမြားကို လည်း ကျွန်ုပ်တို့မြို့မှ စစ်သေနာပတိချုပ်ကိုယ်တော်တိုင် ကွပ်ကဲသော တပ်တော်များသို့ ပို့ပြီး ဖြစ်သည်။ စစ်သေနာ ပတိချုပ် ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်သည် နောက်ဆုံးသွေး စက်ကျသည်အထိ မော်စကိုမြို့မှ ကြံ့ကြံ့ခံမည်ဟု သိရ သည်။ လမ်းကြားတိုက်ပွဲများ ဆင်နွှဲရန်ပင် ပြင်ဆင်ပြီး ဖြစ်သည်။ မြို့သူ

မြို့သားအပေါင်းတို့၊ တရားရုံးတော်များ ကို ပိတ်ထားလိုက်သည့်အတွက် စိုးရိမ်ခြင်း မဖြစ်ကြ ကုန်လင့်။ တရားရုံးတော်များကို ပိတ်ထားသော်လည်း ရပ်ရွာအေးချမ်းရေးကို ဖျက်ဆီးနှောင့်ယှက်သူ လူဆိုးဓားပြ၊ တန္တမုဒိမ်းတို့အား ထိုက်သင့်သလို စစ်ဆေးအပြစ်ပေးမည် ဖြစ်  ဖြစ်သည်။ အချိန်ရောက်သည်နှင့် ကျွန်ုပ်သည် မြို့နှင့် တောကျေးလက်ရှိ အရွယ်ကောင်းသူ ယောကျ်ားများအား တစ်ချက်တည်း လက်နက်စွဲကိုင်၍ ရန်သူတို့ကို ခုခံ မောင်းထုတ်ကြရန် အချိန်းအချက် ပြုမည်ဖြစ်သည်။ ယခုအချိန်၌မူကား ဤသို့ပြုရန် မလိုသေး။ ထို့ကြောင့် ကျွန်ုပ်သည် မော်စကိုမြို့ကို ငြိမ်သက်အေးချမ်းစွာ အုပ်ချုပ် . သွားမည်သာ ဖြစ်သည်။ အရေးတော် ပေါ်သည့်အခါ၌ သာ အဆင်သင့်ဖြစ်ကြစေလိုသည်။ ထိုအခါ၌ ပုဆိန်တစ် လက်သည် သူ့နည်းနှင့်သူ အသုံးကျလိမ့်မည်။ လှံတစ် စင်း သည် လက်နက်ကောင်းတစ်ခု ဖြစ်လိမ့်မည်။ သုံးခွ ခက်ရင်းတစ်ချောင်းသည် ရန်သူကိုထိုးနှက်ရာ၌ အကောင်း ဆုံး ဖြစ်လိမ့်မည်။ အချင်းတို့၊ ပြင်သစ်တစ်ယောက်သည် ကောက်လှိုင်းတစ်စည်းလောက်မျှပင် လေးသည်မဟုတ်။ နက်ဖြန် ညစာစားပြီးချိန်၌ ကျွန်ုပ်သည် မယ်တော်အစ်ဗာ ရီယန်၏ အောင်ခြင်းဆင်းတုတော်ကို ဒဏ်ရာရသူများ ထားရာ ကက်သရင်းဆေးရုံသို့ ပင့်ဆောင်ကာ ရေသပ္ပာယ် ခြင်းအမှုကို ပြု၍ လူနာများ ကျန်းမာစေကြောင်း ဆုတောင်း ပွဲ ကျင်းပမည်။ ကျွန်ုပ်လည်း ကျန်းမာပကတိ ရှိသည်။ မျက်စိတစ်ဖက်နာလျက် ရှိသော်လည်း နှစ်ဖက်စလုံးဖြင့် ရန်သူတို့၏လှုပ်ရှားမှုကို စောင့်ကြည့်လျက် ရှိသည်။”

“သူကသာ မြို့တွင်းက ခံမယ် ပြောတယ်။ တပ် ဗိုလ်များကတော့ မြို့တွင်းမှာ တိုက်ပွဲဆင်လို့ မဖြစ်ဘူး ဆိုပါကလားဗျ။ မြေပြင်အနေအထားကလဲ” ပီယာ ပြော၍ မဆုံးမီ တစ်ယောက်က

”ဟုတ်တယ်ဗျ။ ကျုပ်တို့လဲ ဒါကိုပဲ ပြောနေကြ တာပဲ”

“နို့ နေစမ်းပါဦးဗျ။ “မျက်စိတစ်ဖက်နာလျက်ရှိ သော်လည်း နှစ်ဖက်စလုံး ဖြင့် ရန်သူတို့၏လှုပ်ရှားမှုကို စောင့်ကြည့်နေသည်” ဆိုတာက ဘာအဓိပ္ပာယ်လဲ။ ဘာ ဆိုင်လို့လဲ” ပီယာက မေးလိုက်သည်။ မြို့ဝန်၏တပ်ရေး က ပြုံးလျက် ၊

”ဟဲ ဟဲ၊ မြို့ဝန်မင်း မျက်စိတစ်ဖက် စွန်နေတယ် ဗျ။ လူတွေက မြို့ဝန်မင်း ဘာဖြစ်နေသလဲလို့ လာလာ မေးကြတယ်လို့ ကျွန်တော်က ပြောပြတာနဲ့ ခုလို ထည့် ကြော်ငြာတာ ဖြစ်မှာပေါ့ဗျ။ ဒါထက်တပ်ရေးက ပီယာ ဘက်သို့ ရုတ်တရက် လှည့်၍ ခပ်ပြုံးပြုံးဖြင့်

”မြို့စားလေးလဲ အိမ်ထောင်ရေး အဆင်မပြေဘူး လို့ ကြားတယ်။ မြို့စား ကတော်လေးလဲ”

“ဟင့်အင်၊ ကျွန်တော်ဖြင့် ဘာမှ မသိသေးပါ လား။ ဘာသတင်းများ ကြား လို့လဲ” ပီယာက အရေး မကြီးဟန်ဖြင့် မေးလိုက်သည်။

“အေးဗျ၊ ကျွန်တော်လဲ သတင်းကြားကိုသာ ပြောတာပါ။ လူတွေကလဲ ခက် သားပဲ။ ကြံဖန်ပြီး ပြော တတ်ကြတာကလား”

“ဘာတွေများ ကြားလို့လဲဗျ”

“ကြင်ရာတော် မြို့စားကတော်လေး နိုင်ငံခြားကို သွားမယ်လို့ ကြားတာပဲ။ ကျွန်တော်ကတော့ သိပ်ပြီး အယုံအကြည် မရှိလှပါဘူး”

“မသိဘူးဗျ။ ဟုတ်ချင်လဲ ဟုတ်မှာပေါ့လေ” ပီယာက ဘေးပတ်ဝန်းကျင်ကို ခပ်တွေတွေကြည့်၍ ပြော လိုက်သည်။ ထို့နောက် မျက်နှာနီနီ၊ နှုတ်ခမ်းမွေး မျက်ခုံး မွေး ဆွတ်ဆွတ်ဖြူလျက် သစ်လွင်သောဝတ်စုံကို ဝတ် ထားသည့် အရပ် ခပ်ပြတ်ပြတ် အဘိုးကြီးတစ်ယောက်ကို ညွှန်ပြကာ

"သူက ဘယ်သူလဲဗျ" ဟု မေး၏။

"သြော် သူလား၊ ကုန်သည်ထဲကပါ။ ကုန်သည်ဆို ပျော်ပွဲစားရုံပိုင်ရှင် ဗာရက်ချာဂျင်လေဗျာ။ သူ့ကိစ္စကို မြို့စားလေး မကြားသေးဘူး ထင်တယ်။ ရန်သူ့ ကြေညာ စာတမ်းတွေ့တဲ့ ကိစ္စလေ"

"အို ဟုတ်လား" ပီယာသည် အဘိုးကြီး၏ တည်ကြည်ရဲရင့်သော မျက်နှာကို ကြည့်ကာ သစ္စာ ဖောက်တစ်ယောက် ဖြစ်နိုင် မဖြစ်နိုင်ကို အကဲခတ်လျက် ရှိလေသည်။

"အမှန်ကတော့ အဘိုးကြီးက အချောင်ခံရတာ ပါဗျား။ ကြေညာစာတမ်း ရေးတာက သူ့သားဗျ။ သူ့သား ကတော့ အကျဉ်းထောင်ထဲ ရောက်နေပြီ။ အဘိုး ကြီးလဲ သိပ်တော့ သက်သာမယ်မထင်ဘူး"

ကြယ်ပွင့်ဆုတံဆိပ်တော် ဆင်ယင်ထားသည့် မြို့ မျက်နှာဖုံးလူကြီးတစ်ဦး၊ အရာရှိတစ်ဦးနှင့် ကြက်ခြေခတ် တံဆိပ်တော်ဆင်ထားသည့် ဂျာမန်အမှုထမ်းတစ်ဦးသည် ရှေ့နားသို့ တိုးလာကြ၏။

"သူတို့ကိစ္စကလဲ ခပ်ရှုပ်ရှုပ်ပဲဗျ" တပ်ရေးက ပြောလိုက်၏။ "ကြေညာစာတမ်းက လွန်ခဲ့တဲ့ နှစ်လ လောက်က ထွက်လာတာဗျ။ ဒီ ကြေညာစာတမ်းထွက်တဲ့ ကိစ္စကို မြို့ဝန် မင်းလဲ သိရော စုံစမ်းခိုင်းတော့တာပဲ။ စုံစမ်းထောက်လှမ်းတဲ့လူက ဂေဗရီယံအီဗန်နိုဗစ်ပေါ့။ ကြေညာစာတမ်းကို သူတို့က တစ်ယောက်တစ်လှည့် ဝေတာ လူပေါင်းခြောက်ဆယ့်သုံးယောက်လက်ထဲ ရောက် ပြီးပြီတဲ့။ ဗရီယ်က ဒီစာတမ်းကို တစ်ယောက်လက် ထဲမှာတွေ့တော့ ဘယ်ကရသလဲလို့ စုံစမ်းတာပေါ့။ ဟို လူကလဲ ဒီလို ဒီလိုပဲ ဒီလူ့ဆီက ရတာလို့ ဖော်ပြောတော့ အဲဒီလူဆီ လိုက်ပြန်ရောဂါ့။ ဒီလိုနဲ့ အမျှင်တန်းလိုက် လာတာ နောက်ဆုံး ဗာရက်ချာဂျင်ရဲ့ သားဆီ ရောက်လာ ပါလေရော။ ဗာရက်ချာဂျင်သား

ကို ဘယ်ကရသလဲလို့ မေးတော့ ဒီလူက "ဘယ်သူ့ဆီကမှ ရတာမဟုတ်ဘူး။ ကျုပ်ရေးတာ"လို့ ပြောသတဲ့။ အမှန်ကတော့ ကျွန်တော် တို့ကလဲ ဒီ ကြေညာစာတမ်းဟာ ဘယ်သူ့လက်ထဲက ထွက်လာတယ်ဆိုတာ သိပါတယ်။ သူ ရတာ စာတိုက် တော်မှူးကြီးဆီက ရတာပဲ။ ဒါကြောင့် ဆိုင်ရာက သူ့ကို ခြောက်လှန့်အစ်အောက်ပြီး မေးပြန်တယ်။ ဟိုလူကလဲ ဘယ်လိုပဲ မေးမေး၊ သူ ရေးတာပဲဆိုပြီး ဇွတ်ပေခံတော့ တာပဲ။ ဒါကြောင့် ဒီကိစ္စကို မြို့ဝန်ကြီးထံ အစီရင်ခံ တော့ မြို့ဝန်ကြီးကိုယ်တိုင် ခေါ်စစ်ပြန်တယ်။ ဒီလူကလဲ ဘယ်လောက် မိုက်သလဲဆိုရင် သူ ရေးတာပဲဆိုပြီး အတင်း ဇွတ်ပြောနေတော့တာပဲ။ ဒီတွင် မြို့ဝန်မင်းကြီးလဲ ဒီလူ ဒီလောက်ခေါင်းမာရမလားဆိုပြီး ဒေါသူပုန် ထတော့ တာပဲ"

"ဘာလဲ၊ ခင်ဗျားတို့ မြို့ဝန်က ဒီစာတမ်းကို စာ တိုက်တော်မှူးကြီးဆီက ရတယ်လို့ ပြောစေချင်သပေါ့"

"ဒီလိုတော့လဲ မဟုတ်ပါဘူး။ စာတိုက်တော်မှူး ကြီးက ဒီကိစ္စမပေါ်ဘဲနဲ့ တခြားပြစ်မှုတွေပေါ်လို့ နယ် နှင်ဒဏ်ပေးခံပြီးပြီပဲ။ မြို့ဝန်ကြီး ဒေါသထွက်တာက ဒီလူ က လိမ်ပြောလို့ပါ။ ဒီလူက အဲဒီလိုပဲ ဘူးခံရော မြို့ဝန် ကြီးကလဲ စားပွဲပေါ်ရှိတဲ့ ဟန်းဘိုသတင်းစာတမ်းကို ထိုးပြပြီး "ဒါ မောင်မင်းရေးတာ မဟုတ်ပါဘူး။ ဒီ သတင်း စာတမ်းထဲက ဘာသာပြန်တာ မဟုတ်လား။ ဘာသာ ပြန်တဲ့နေရာမှာလဲ မောင်မင်း ပြင်သစ်လို ကောင်းကောင်း မတတ်ဘဲ သောက်ရမ်းဘာသာပြန်တတ် တာပဲ" ဆိုပြီး သက် သေအထောက်အထား ပြပေမယ့်လဲ တရားခံကတော့ ဟန်း ဘိုသတင်းစာတမ်းကို သူ မဖတ်ရသေးဘူး။ ဘာသာ ပြန်တာလဲ မဟုတ်ဘူး။ သူ့ ဘာသာသူ ရေးတာဆိုပြီး ငြင်းတုန်းပဲ။ နောက်ဆုံးတော့ "ကဲ၊ ဒီလိုဆိုရင် မောင်မင်း ဟာ သစ္စာဖောက်ပဲ။ မောင်မင်းကို ခုံရုံးတင်စစ်ပြီး ကြိုး ဒဏ်ပေးရလိမ့်မယ်။ မှန်ရာကို ပြော" လို့ဆိုတော့လဲ အဘိုး ကြီးသားကတော့ သူ ရေးတာပဲဆိုပြီး

အတင်းခံနေတာ ပဲ။ ဒီတွင် မြို့ဝန်ကြီးက သူ့အဖေကြီးကိုခေါ်ပြီး မေးပြန် တယ်။ ဒါပေမဲ့ သားကတော့ ဘူးခံတုန်းပဲ။ နောက်ဆုံး သူ့ကို ခုံရုံးတင်စစ်ပြီး အလုပ်ကြမ်း နဲ့ ထောင်ဒဏ် အပြစ် ပေးလိုက်တယ်လေ။ ခုတော့ အဖေကြီးက သားအတွက် လာတာထင်ပါရဲ့။ ဒီလူကလဲ အလကားလူပါဗျာ။ ကုန် သည်သားဆိုရင် သူတစ်ပါး သားပျို သမီးပျိုတွေကို လိုက် ဖျက်ဆီးနေတဲ့ လူပေါ်ကြော့ကလေးတွေချည်းပဲ။ လူက တိတ်တိတ်ပုန်း သင်တန်းတွေ ဘာတွေတက်ပြီး ငါလိုလူ ဇမ္ဗူမှာ ရှိသေးရဲ့ လားဆိုတဲ့ အမျိုးမျိုးနဲ့ ဘဝင်မြင့်နေတာ ပါ။ ခုတော့ အဖေကြီးက "ကျောက်တံ တား' နားမှာ ပျော်ပွဲစားရုံ ဖွင့်နေတယ်။ မြို့စားလေး သတိထားမိမလား မသိဘူး။ မော်စကိုမြို့ထဲမှာ ရာဇလှံတံနဲ့ ကမ္ဘာလုံးကိုင် ထားတဲ့ ဘုရားပုံတော်ရှိတယ် မဟုတ်လား။ နပိုလီယန် မှာ သူ့သား ရာဇလှံတံနဲ့ ကမ္ဘာလုံးနဲ့ ကိုင်ကစားနေတဲ့ ပုံ ရှိတာကို အားကျဟန်တူပါရဲ့။ အဘိုးကြီးဟာ အဲဒီ ဘုရားပုံတော်ကို ပင့်လာပြီး ခပ် ချာချာ ပန်းချီဆရာတစ် ယောက်ကို အဆွဲခိုင်းပြီး ဆိုင်မှာ ချိတ်ထားသတဲ့။ အဲဒါ ကလဲ တစ်ပြစ်ပေါ့"

# အခန်း ၁၁

တပ်ရေးက ဤသို့ ဗာရက်ချာဂျင်၏ သားအကြောင်းကို ပြောလျက်ရှိစဉ် မြို့ဝန် ရှေ့စတော့ချင်က အခေါ်လွှတ် လိုက်သဖြင့် စကားပြတ်သွား၏။

မြို့ဝန်၏ အခန်းထဲသို့ ပီယာဝင်သွားသည့်အခါ၌ မြို့ဝန် ရှေ့စတော့ချင် သည် မျက်မှောင်ကုတ်ကာ နဖူးနှင့် မျက်လုံးများကို ပွတ်လျက် ရှိသည်။ အရပ်ခပ် ပြတ်ပြတ် လူတစ်ယောက်သည် မြို့ဝန်ထံ တစ်စုံတစ်ရာပြောလျက် ရှိရာမှ ပီယာ ဝင်လာသည်ကို မြင်သည့်အခါတွင် စကား ဖြတ်ကာ အပြင်သို့ ထွက်သွားလေ သည်။

“ဘယ့်နှယ်၊ စစ်သည်တော်ကြီး မှတ်တယ် ခင်ဗျ” မြို့ဝန် ရှော့စတော့ချင်က ပီယာကို နှုတ်ဆက်လိုက်၏။ “အိမ်း၊ မြို့စားလေးရဲ့ သူရသတ္တိကတော့ ကျော်ကြား ပါ ပေတယ်ဗျာ။ ဟဲ ဟဲ။ အေးလေ ဒါတွေက သိပ်အရေး မကြီးပါဘူး။ အရေးကြီး တာက မြို့စားလေးဟာ ညီအစ်ကို တော်ဂိုဏ်းဝင် ဟုတ် မဟုတ်ဆိုတဲ့ ပြဿနာပဲ ဗျ”

မြို့ဝန် ရှော့စတော့ချင်က တဲ့တိုးကြီး မေးချလိုက် သည်။ ဤသို့မေးရခြင်း အတွက် စိတ်မကောင်းဖြစ်ရသော် လည်း မတတ်နိုင်ပါဟူသောသဘောမျိုးကို လည်း ပြလျက် ရှိ၏။ ပီယာသည် ဘာမျှ မပြောဘဲ ငြိမ်နေလိုက်သည်။

“ကျုပ်လဲ ဒီလောက်တော့ မနုသေးပါဘူးဗျာ။ မော်စကိုမြို့ထဲမှာ ညီအစ်ကိုတော်ဂိုဏ်းဝင်တွေ တော်တော် များများရှိနေပြီဆိုတာလောက်တော့ ရိပ်မိပါတယ်။ လူ့ လောကကြီး ကယ်တင်ရေးဆိုတဲ့ အရေကို ခြုံပြီး ရုရှား နိုင်ငံတော်ကြီးပျက်စီးအောင်လုပ်နေတဲ့ ညီအစ်ကိုတော် ဂိုဏ်းဝင်တွေထဲမှာတော့ မြို့စားလေးပါမယ် မထင်ပေဘူး ဗျ။ ဟုတ်”

”ဟုတ်ပါတယ် မြို့ဝန်မင်း၊ ကျွန်တော် ညီအစ်ကို တော်ဂိုဏ်းဝင်တစ်ဦး ဖြစ် ပါတယ်” ပီယာက ဖြေလိုက်၏။

“အို ဟုတ်လား။ အိမ်း၊ ဒီလို ပွင့်ပွင့်လင်းလင်း ပြောတော့လဲ သိရပေတော့ တာပေါ့ဗျာ။ ပြည်ထဲရေးဝန် စပီရန်စကီနဲ့ မဂ္ဂနှစ်စကီတို့တော့ သူတို့နဲ့ ထိုက်တန်သော နေရာဖြစ်တဲ့ မဲဇာကို ရောက်နေကြပြီဗျ။ စာတိုက်တော် မှူးကြီး လဲ ထိုနည်းလည်းကောင်းပဲဗျ။ ကမ္ဘာကြီးရဲ့ လွတ် မြောက်ရေးလို့ ပြောပြီး အမိ တိုင်းပြည်ကြီးကို ဖျက်ဆီး နေတဲ့ အခြားသူများဟာလဲ အလားတူ ထိန်းသိမ်း စောင့် ရှောက်ခြင်း ခံနေရပြီဗျ။ အမှန်ကတော့ စာတိုက်တော်မှူး ကြီးဆိုရင် အသက်အရွယ်လဲ ကြီးလှပြီ။ အိုကြီးအိုမ ဖြစ်ခါမှ သူ့ကို ဒုက္ခလဲ မရောက်စေချင်

တော့ပါဘူး။ ဒါ ပေမဲ့ မတတ်နိုင်တော့ဘူးဗျ။ အရေးယူရပေတော့မှာပဲ။ ဒါကို မြို့စားလေးလဲ နားလည်လိမ့်မယ်ထင်တယ်။ ခု နောက်ဆုံး စုံစမ်းလို့ သိရသလောက်ကတော့ စာတိုက်တော် မှူးကြီး ရာဇဝတ်ဘေးကလွတ်အောင် ထွက်ပြေးတဲ့ကိစ္စ မှာ မြို့စားလေးဟာ မြို့စားလေးရဲ့ ရထားကို ငှားခဲ့တယ်။ နိုင်ငံတော်သစ္စာကို တော်လှန်တဲ့ သူ့ရဲ့ စာရွက်စာတမ်း များကိုလဲ မြို့စားလေးက လုံခြုံစွာ သိမ်းဆည်းပေးခဲ့တယ် လို့ ကြားရသဗျ။ ဒီနည်းအားဖြင့် မြို့စားလေးဟာလဲ ကြံရာပါ ဖြစ်နေပြီဗျ။ ကျုပ်အနေနဲ့ ပြောရရင်တော့ မြို့ စားလေးကို ကျုပ် ခင်ပါတယ်။ အန္တရာယ်တစ်စုံတစ်ရာ လဲမဖြစ်စေချင်ပါဘူး။ တကယ်တော့ မြို့စားလေးဟာ ကျုပ်ရဲ့ သားလောက်ပဲ ရှိသေးတယ်။ ဒီတော့ ဦးရီးတော် တစ်ယောက်အနေနဲ့၊ ဖခင်တစ်ယောက်အနေနဲ့ ကျုပ် အကြံပေးချင်တာက ဒီလူတွေနဲ့ အဆက်အသွယ်မလုပ်ဖို့နဲ့ မော်စကိုက အမြန်ဆုံး ထွက်ခွာသွားဖို့ပဲ”

“နေစမ်းပါဦး မြို့ဝန်မင်းခင်ဗျာ။ စာတိုက်တော် မှူးကြီးမှာ ဘာအပြစ်များ ရှိလို့ပါလဲ” ပီယာက မေး လိုက်သည်။

“ဒီကိစ္စက ကျုပ်သိရမယ့်ကိစ္စ ခင်ဗျ။ ခင်ဗျား မေးဖို့ကိစ္စ မဟုတ်ပါဘူး” မြို့ဝန် ရော့စတော့ချင်က ခပ် ဆတ်ဆတ်ပြောလိုက်သည်။

“စာတိုက်တော်မှူးကြီးဟာ နပိုလီယန်ရဲ့ ကြေညာ စာတမ်းကို ဝေတယ်လို့ စွပ်စွဲခံရပေမယ့် သက်သေ သာ ခကမရှိရင် လွှတ်ပစ်ဖို့ရှိတာပဲ မဟုတ်ပါလား မြို့ဝန်မင်း။ ဗာရက်ချာဂျင်ဆိုရင်လဲ”

“ါ၊ လူ တိတ်” မြို့ဝန် ရော့စတော့ချင်က မျက်မှောင်ကုတ်၍ ခပ်ကျယ်ကျယ်ကလေး အော်လိုက် သည်။ “ဒီကောင်ဟာ သစ္စာဖောက်ဗျ၊ သစ္စာဖောက်။ သစ္စာဖောက်ကို သစ္စာဖောက်နဲ့ ထိုက်တန်တဲ့အပြစ် ပေး ရမယ်”

မြို့ဝန် ရှော့စတော့ချင်သည် နားသယ်ကို အရိုက်ခံ လိုက်ရသကဲ့သို့ ဒေါသ တကြီးဖြင့် အော်လိုက်သည်။

"ကဲ မြို့စားလေးကို ဆင့်ခေါ်ရတဲ့အကြောင်းက တော့ ကျုပ်ဆောင်ရွက် ချက်တွေကို ဝေဖန်ချက်ပေးဖို့ ခေါ်ခြင်း မဟုတ်ဘူးဗျ။ ခင်ဗျားကို တခြားသွားနေဖို့ အကြံပေးရအောင်ခေါ်ခြင်းဖြစ်တယ်။ တစ်နည်းပြောရရင် အမိန့်လို့လဲ ခေါ်နိုင် တယ်။ မြို့စားလေးအနေနဲ့ ဒီလူတွေ ကို အဆက်အသွယ်ဖြတ်ပါ။ နောက် ဒီမြို့က အမြန်ဆုံး ထွက်သွားပါ။ ကျုပ်အလုပ်ကတော့ လူတွေရဲ့ ခေါင်းထဲမှာ စွဲနေတဲ့ အဓိပ္ပာယ်မရှိတဲ့ အတွေးအခေါ်တွေကို မရမနေ ချွတ်ဖို့ပဲ။ ဒါပဲ"

မြို့ဝန် ရှော့စတော့ချင်သည် ပြစ်မှုတစ်စုံတစ်ရာ ကျူးလွန်ခြင်းဟု စွပ်စွဲ၍ မရသေးသည့် မြို့စားကလေး ပီယာအား ဒေါသတကြီး အော်ဟစ်ပြောဆိုလိုက်မိ သည့် အတွက် အားနာသွားမိသည့်ပမာ ပီယာ၏လက်ကို ဆွဲ လိုက်ပြီး လေချို ကလေးဖြင့် ပြောလိုက်ပြန်သည်။

"ကျုပ်တို့မှာ အရေးတော်ပေါ်နေပြီ မြို့စားလေး။ ခေါင်းမီးတောက်နေပြီ။ လူတိုင်းကို ယဉ်ယဉ်ကျေးကျေး ဆက်ဆံဖို့ အချိန်မရတော့ဘူး။ ဒါထက် နေစမ်းပါ ဦး။ မြို့စားလေးရော ဘာတွေများ လုပ်နေသလဲ"

"ဟင့်အင်း၊ ကျွန်တော် ဘာမှ မလုပ်ပါဘူး" ပီယာက မြို့ဝန် ရှော့စတော့ချင် ကို မကြည့်ဘဲ ခပ်မှုန်မှုန် မျက်နှာထားဖြင့် ဖြေလိုက်သည်။

မြို့ဝန် ရှော့စတော့ချင်သည် မျက်မှောင်ကုတ်လိုက် ၏။

"ကဲ မြို့စားလေးကို မိတ်ဆွေရင်းချာပီပီ သတိ ပေးတာပဲဗျာ။ နောက်တော့ မပြောမရှိနဲ့၊ အကောင်းဆုံး ကတော့ မော်စကိုက အမြန်ဆုံးထွက်သွားဖို့ပဲ။ မင်း

ပြစ် မင်းဒဏ်ခံရတယ်ဆိုတာ မကောင်းပါဘူး။ ကဲ သွားပေ တော” မြို့ဝန် ရှော့စ တော့ချင်က ပြောလိုက်သည်။ ပီယာ တံခါးဝသို့ အရောက်တွင်

”ဒါထက် ကြင်ရာတော်မြို့စားကတော်လေးလဲ ဗရင်ဂျီဘာသာကို ကူးပြောင်းသွားတယ်လို့ ကြားတယ်။ ဟုတ်လားဗျ”

ပီယာသည် မြို့ဝန် ရှော့စတော့ချင်ကို မည်သို့မျှ မဖြေဘဲ ဝင်လာစဉ်က ထက် သုန်မှုန်သောမျက်နှာထား ဖြင့် ထွက်ခဲ့လေသည်။

စံအိမ်တော်သို့ ပီယာပြန်ရောက်သောအခါတွင် မှောင်လျက်ရှိလေပြီ။ ထိုနေ့ ညနေက ပီယာအား တွေ့ဆုံ ရန် ဧည့်သည်ရှစ်ယောက် လာစောင့်နေကြသည်။ ၎င်းတို့ ကား အသင်းတစ်ခု၏အကျိုးဆောင် ပီယာ၏အရေးပေါ် စစ်သည်စု တပ်ရင်းမှ ဗိုလ်မှူးကြီးတစ်ဦး၊ ပီယာ၏စာရင်း ဒိုင်ချုပ်၊ ပီယာလက်စွဲတော်ကြီးနှင့် အခြားဧည့်သည်များ ဖြစ်ကြ၏။ ၎င်းတို့အားလုံးသည် ကိစ္စအဝဝနှင့်ပတ်သက် ၍ ပီယာ၏ဆုံးဖြတ်ချက်ကို လာရောက်တောင်းခံခြင်း ဖြစ်ပေသည်။ ပီယာသည် ထို ပြဿနာများကို နားလည်း မလည်၊ စိတ်လည်း မဝင်စားတော့ချေ။ ထို့ကြောင့် ၎င်း တို့ကို အတွေ့မခံဘဲ သင့်တင့်အောင်ကြည့်၍ ပြောရန် မှာကြားလိုက်သည်။ တစ်ယောက်တည်းရှိသောအခါမှ ကြင်ရာတော်ဟယ်လင်မင်းသမီး၏စာကို ဖွင့် ဖတ်သည်။

“အမြောက်တပ်စုမှ တပ်သားများ၊ မင်းသား ကလေးအင်ဒရေဆုံးသည့် သတင်း၊ ဗာရက်ချာဂျင်၏ ဖခင်အိုကြီး။ ဖြောင့်မတ်ရိုးသားခြင်းသည် ဘုရားသခင်၏ အလိုတော်ကို နာခံခြင်းဖြစ်သည်ဟူသော အယူအဆ၊ ဒုက္ခဝေဒနာ သည် လူ့လောကအတွက် လိုအပ်သောအရာ ဖြစ်သည်ဟူသော အတွေး၊ အတွေးအခေါ်များကို နဖား ကြိုးတပ်ရမည်ဟူသော အိပ်မက်၊ ကြင်ရာတော် ဟယ်လင် မင်းသမီး အိမ်ထောင်သစ်ထူမည့်သတင်း´ စသည်တို့သည် ပီယာ၏ခေါင်းထဲ

တွင် ရှုပ်ထွေးလျက်ရှိသည်။ ပီယာသည် အိပ်ရာသို့ လာကာ အဝတ်အစားပင်မလဲ တော့ဘဲ ခြေပစ် ( လက်ပစ်လှဲကာ အိပ်ပျော်သွားလေသည်။

နောက်တစ်နေ့နံနက် အိပ်ရာမှနိုးသောအခါ ပီယာ ၏လက်စွဲတော်ကြီးလာ ရောက်ကာ မြို့ဝန် ရော့စတော့ ချင်ကစေလွှတ်လိုက်သော ရဲအရာရှိတစ်ဦး ရောက်လာ ကြောင်း၊ ၎င်းက ပီယာ မော်စကိုမြို့မှ ထွက်သွားပြီလော ဟု မေးမြန်း စုံစမ်းနေကြောင်းဖြင့် ပြောကြားလေသည်။

ပီယာအား တွေ့ဆုံရန်လာသော ဧည့်သည်တစ်ခါ ဇင်တို့သည် ဧည့်ခန်းထဲ တွင်စောင့်လျက် ရှိ၏။ ပီယာသည် ၎င်းတို့ကို ဆင်းမတွေ့တော့ဘဲ လျင်မြန်စွာ အဝတ်အစား လဲကာ နောက်ဖေးပေါက်မှ တိတ်တဆိတ် ထွက်လာခဲ့ လေသည်။

ထိုအချိန်မှစ၍ မော်စကိုမြို့ကြီး မီးလောင်ပြာကျ သွားသည်အထိ မြို့စား ကလေးပီယာ၏ စံအိမ်၌ ကျွန်ယုံ များ အစေတော်များသည် ၎င်းတို့၏သခင်အား လိုက်လံ ရှာဖွေကြသော်လည်း မတွေ့ကြတော့ချေ။ မည်သည့်ဒေသ သို့ ရောက် နေသည်ကိုလည်း မသိကြတော့ချေ။

## အခန်း ၁၂

မော်စကိုမြို့ကို ရန်သူ ပြင်သစ်တပ်များ ဝင်ရောက်ခြင်း မပြုမီတစ်ရက်ဖြစ် သည့် စက်တင်ဘာလ ၁-ရက်နေ့အထိ မြို့စားကြီးရော့စတော့ဗ်မိသားစုသည် မော် စကိုမှ ပြောင်း ရွှေ့ခြင်း မပြုရသေးချေ။

မြို့စားကတော်ကြီးမှာ သားထွေးပီတာတစ်ယောက် ဖြစ် ဗိုလ်ချုပ်ကြီး အို ဘိုလင်စကီ၏ ကော့ဆက်မြင်းတပ်သို့ ဝင် ရောက်ပြီးနောက် တပ်ရင်း၌ာနချုပ်ရှိ ရာ ဗေလာယာဆား ကော့ဒေသသို့ ထွက်သွားသည့်အချိန်မှစ၍ ကောင်းစွာ မ

ကျန်းမာတော့ချေ။ မိမိ၏သားနှစ်ယောက်စလုံးသည် စစ်မြေပြင်သို့ ရောက်ရှိနေကြပြီဟူသောအတွေး၊ မိမိ၏ အုပ်ထိန်းမှုအောက်မှ ထွက်ခွာသွားကြပြီဟူသော အသိ နှင့် မိမိမိတ်ဆွေတစ်ဦး၏ သားသုံးယောက်ကဲ့သို့ စစ်မြေပြင် တွင် တစ်နေ့ မဟုတ် တစ်နေ့၌ ကျဆုံးချေတော့မည်လော ဟူသော သောကစိတ်တို့ကြောင့် မြို့စားကတော်ကြီး၏ ကျန်းမာရေးမှာ ထိုနှစ် နွေရာသီ၌ ပို၍အခြေအနေဆိုးလာခဲ့လေပြီ။ မြို့စားကြီးကတော်ကြီးသည် သားကြီးနီကိုလေ ကို စစ်တပ်မှ ထွက်စေပြီး ၎င်းကိုယ်တိုင် သားငယ်ပီတာ ထံသို့ လိုက်သွားရန် သို့မဟုတ်ကလည်း ပီတာစဘတ် ရွှေမြို့တော်သို့ပြောင်းရွှေ့နိုင်ရန် စိတ်ကူးသော်လည်း တစ်ခု မျှ အထမမြောက်ချေ။ ပီတာမှာ တပ်ရင်းတစ်ခုလုံး ပီတာ စဘတ်ရွှေမြို့တော်သို့ ပြောင်းရွှေ့မှသော် လည်းကောင်း၊ အခြားတပ်ရင်းတစ်ခုတွင် ဝင်ရောက် အမှုထမ်းမှသော် လည်းကောင်း၊ ပီတာစဘတ်ရွှေမြို့တော်သို့ ရောက်ရှိရန် လမ်းရှိတော့လျက် နီကိုလေမှာလည်း စစ်မြေပြင်တစ်နေရာ တွင် ရောက်ရှိနေလေသည်။ ၎င်းထံမှလည်း မင်းသမီး ကလေး မေရီနှင့် တွေ့ဆုံရပုံကို အသေးစိတ်ရေးပို့လိုက် သော စာမှလွဲ၍ နောက်ထပ်စာတစ်စောင်မျှ မရတော့ချေ။ မြို့စားကတော်ကြီးသည် ည၌ ကောင်းစွာအိပ်မပျော်ချေ။ အိပ်ပျော်ပြန်လျှင်လည်း သားများ ကျဆုံးပြီဟူသော ကယောင်ချောက်ချားအိပ်မက်များကိုသာ မြင်မက်လျက် ရှိလေသည်။ ဤသို့ဖြင့် မြို့စားကြီး ရော့စတော့ဗ်မှာ ကြင် ရာတော်မြို့စားကတော်ကြီး၏အခြေအနေကို မကြည့်ရက် နိုင်တော့သဖြင့် တစ်မျိုးတစ်ဖုံ စီမံခြင်း ပြုရတော့သည်။ သားငယ်ပီတာအား ဗိုလ်ချုပ် အိုဘိုလင်စကီ၏ ကော့ဆက် မြင်းတပ်ရင်းမှ မော်စကိုမြို့အနီးတွင် စစ်လေ့ကျင့်ခန်း ဆင်းလျက်ရှိသော ဗိုလ်ချုပ်ဘီဇူးကော့ဗ်၏ တပ်ရင်းသို့ မရအရ ပြောင်းရွှေ့ယူရလေသည်။ ထိုအခါတွင်မှ မြို့စား ကတော်ကြီးမှာ သားများ စစ်တပ်ထဲတွင်ရှိနေသည့်တိုင် အောင် သားတစ်ယောက်မှာမူ မိမိ၏အုပ်ထိန်းမှု အောက် တွင် ရှိနေပေသေးသည်ဟု စိတ်ဖြေနိုင်တော့သည်။ မြို့စား ကတော်ကြီး

သည့် သားထွေးဖြစ်သူပီတာအား တပ်ထဲသို့ နောက်ထပ်မဝင်ဖြစ်အောင် စီစဉ် ကြံရွယ်ထားသော်လည်း ပီတာမှာ တပ်မှ မထွက်ဖြစ်သေးဘဲ တိုက်ပွဲ ဖြစ်ပွားခြင်း မရှိသောဒေသများသို့ မကြာခဏ ပြောင်းရွှေ့ နေရလေ သည်။ ဤတွင် တစ် ယောက်အတွက် စိတ်အေးရပြီ ဖြစ် သော်လည်း နီကိုလေမှာ ယခုတိုင် စစ်မြေပြင် တွင် ရှိနေ ပြန်သေးသည်တွင် နီကိုလေမှာ သားကြီးသြရသဖြစ်၍ အခြားသားသမီး များထက်ပင် သူ့ကို ချစ်ရသေးသည်ဟု တွေးမိပြန်ကာ ၎င်းအတွက်ရတက်မအေး ဖြစ်ရပြန်သည်။ သို့ရာတွင် အိမ်၌ အထွေးဆုံးမို့ အစစအရာရာအလိုလိုက် ၍ တစ် အိမ်လုံးက ဖူးဖူးမှုတ်ထားသော သားငယ်ပီတာ တစ်ယောက် ကြမ်းကြမ်းတမ်း တမ်း စစ်သား လူကြမ်းကြီး တွေထဲတွင် ရောက်နေရရှာပြန်သည်ဟု တွေးမိပြန် သော အခါတွင်မူကား မြို့စားကတော်ကြီးမှာ ပီတာကို အခြား သားသမီးများထက် အချစ်တွေပိုကာ အကြင်နာတရားတွေ ပွားရပြန်လေသည်။ ပီတာ စစ်တပ်မှ ပြန်လာချိန် နီးလေ လေ၊ မြို့စားကတော်ကြီးမှာ ဂနာမငြိမ်လေလေ ဖြစ်လေ သည်။ မိမိသည် မိမိ၏သားများနှင့် ဥမကွဲ သိုက်မပျက် နေရသည့် စိတ်ချမ်းမြေ့ ခြင်းမျိုးကို မည်သည့်အခါမှရမည် မဟုတ်တော့ဟု တွေးမိကာ ဝမ်းနည်းလျက် ရှိ လေသည်။ ဆွန်ယာ၊ သမီး နာတာရှာနှင့်တကွ ကြင်ရာတော်မြို့စားကြီး ရော့စ တော့ဗ်တို့ ရှိသော်လည်း များစွာ မပျော်ပိုက်လှတော့ ချေ။ သားထွေးပီတာကိုသာ တမ်းတလျက် ရှိလေသည်။

သြဂုတ်လကုန်ခါနီးလောက်တွင် သားကြီး နီကို လေထံမှ စာတစ်စောင် ရောက်ရှိလာ၏။ နီကိုလေသည် စစ်တပ်အတွက် မြင်းများသိမ်းရန် ဗိုရိုနက်နယ်သို့ ရောက် လျက်ရှိရာမှ အိမ်သို့ စာရေးလိုက်ခြင်း ဖြစ်သည်။ သားကြီး နီကိုလေထံမှ စာကို ရရှိသော်လည်း မြို့စားကတော်ကြီးမှာ စိတ်မအေးနိုင်သေးချေ။ နီကိုလေ စစ်မြေပြင်တွင် မရှိတော့ ဟု သိရသည့်အခါတွင် ပီတာ့အတွက် စိုးရိမ်မကင်းဖြစ် ရပြန်သည်။

ဩဂုတ်လ ၂၀-ရက်နေ့သို့ ရောက်သည့်အခါ၌ မြို့စားကြီးရော့စတော့ဖ်၏အသိမိတ်ဆွေအားလုံးလောက် ပင် မော်စကိုမြို့မှ ထွက်ခွာသွားကြလေပြီ။ ရင်းနှီးသူများ ကလည်း မြို့စားကြီး ရော့စတော့ဖ်တို့ အိမ်သားစုအား အမြန်ဆုံး ပြောင်းရွှေ့ရန် တိုက်တွန်းကြသည်။ သို့ရာတွင် မြို့စားကတော်ကြီးမှာ ၎င်း၏မျက်ရှုကြေးမုံဖြစ်သော သား ထွေးပီတာ ပြန်ရောက်မလာမချင်း မော်စကိုမှ ထွက်ခွာရန် စိတ်ကူးမထည့်သေးချေ။ ဩဂုတ်လ ၂၈-ရက်နေ့၌ ပီတာ သည် မော်စကိုသို့ ပြန်ရောက်လာ၏။ အသက်တစ်ဆယ့် ခြောက်နှစ်မျှသာ ရှိသေးသော်လည်း တပ်ဗိုလ်ပေါက်စ ဖြစ်နေသည့် ပီတာကား ဤမျှလောက် မိခင်ကြီး အဖြစ် သည်းနေခြင်းကို နှစ်သက်ပုံမရချေ။ မြို့စားကတော်ကြီး က ပီတာအား တပ်မှ နုတ်ထွက်စေကာ မိမိ၏အုပ်ထိန်းမှု အောက်တွင် နေစေလိုသောဆန္ဒကို ဖွင့်ဟမပြောသော်လည်း ပီတာကမူ မိခင်အကြံအစည်ကို ရိပ်မိပုံရသည်။ ပီတာသည် မိခင်၏အလိုကို လိုက်မိမည်စိုးသည့်အတွက် (ဤသို့ မိခင်၏အလိုဆန္ဒကို လိုက်လျောရခြင်းမျိုးသည် "မိန်းမဆန်သည်" ဟု ပီတာထင်သည်။) မိခင်ကြီးအား ခပ်ရှောင်ရှောင်လုပ်ကာ ခပ်တန်းတန်းဆက်ဆံလျက်ရှိပြီး နာတာရှာတို့တစ်တွေနှင့်သာ အချိန်ဖြုန်းနေလေ့ ရှိသည်။

မြို့စားကြီးရော့စတော့ဖ်မှာ နမော်မဲ့နမာမဲ့နေလေ့ ရှိသည့်အတိုင်း ဩဂုတ်လ ၂၈-ရက်နေ့အထိ ပြောင်းရွှေ့ ရေးကိစ္စများအတွက် ဘာမျှ အဆင်သင့်မဖြစ်သေးချေ။ အိမ်ထောင်ပစ္စည်းများကို ရွှေ့ ပြောင်းရန်အတွက် ရာဇန် ပိုင်စားနယ်မြေများနှင့် မော်စကိုပိုင်စားနယ်မြေမှ မြေကျွန် များထံ လှည်းများ မှာထားသော်လည်း ဩဂုတ်လ ၃၀ရက်နေ့အထိ ရောက်မလာကြသေးချေ။

ဩဂုတ်လ၂၈-ရက်နေ့နှင့် ၃၁-ရက်နေ့အတွင်း၌ ကား မော်စကိုတစ်မြို့လုံးမှာ ပြောင်းကြ ရွှေ့ကြ၊ သယ်ကြ ပိုးကြဖြင့် ဗြောင်းဆန်လျက် ရှိလေသည်။ ဘိုရိုဒီနိုတိုက်ပွဲ တွင် ဒဏ်ရာရသူ တပ်သားထောင်ပေါင်းများစွာတို့သည် ဒိုရိုဂို မီလေ့

တံခါးမှနေ၍ မြို့တွင်းသို့ နေ့စဉ်နှင့်အမျှ တစ်ဖွဲဖွဲရောက်လျက်ရှိကာ မြို့သူမြို့သား များနှင့် အိမ်ထောင် ပစ္စည်းများကို သယ်ဆောင်လာသည့် ထောင်ပေါင်းများစွာ သောလှည်းများကလည်း အခြားတံခါးများမှနေ၍ မော်စကို မြို့အပြင်သို့ တ သောသောထွက်လျက် ရှိကြသည်။ မြို့ဝန် ရော့စတော့ချင်က ကြော်ငြာစာများ ပလူပျံအောင် ထုတ် ဝေလျက်ရှိသော်လည်း မြို့တွင်း၌မူ ကေလာဟလအမျိုး မျိုး ဖြစ်ပေါ်လျက်ရှိလေသည်။ (မြို့ဝန်၏ကြော်ငြာစာများ ကြောင့် ဤသို့ ကောလာဟလများ ထွက်ပေါ်လာခြင်း လည်း ဖြစ်နိုင်ပါသည်။) အချို့ကလည်း မည်သူ့ကိုမျှ မြို့ပြင်သို့ ထွက်ခွင့်မပြုဟု ပြောကြသည်။ အချို့ကလည်း သုဓမ္မာဇရပ်များမှ ဆင်းတုတော်များကိုပင် ပြောင်းရွှေ့ ပြီးလျက် မြို့တွင်းမှ အားလုံးထွက်ခွာရန် အမိန့်ထုတ်ထား သည်ဟု ပြောကြပြန်သည်။ အချို့ကလည်း ဘိုရိုဒီနိုတိုက်ပွဲ ပြီးသည့်နောက် နောက်ထပ်တိုက်ပွဲတစ်ခု အပြင်းအထန် ဖြစ်ပွား ပြီး ပြင်သစ်တို့ တပ်ပျက်သွားကြောင်းဖြင့် ပြော ဆိုကြသည်။ အချို့ကမူကား တပ်ပျက်သွားခြင်းမှာ ပြင် သစ်တို့မဟုတ်ဘဲ ရုရှားတပ်မတော်ကြီးသာ ဖြစ်ကြောင်း ဖြင့် တစ်မျိုးတစ်ဖုံဆိုကြပြန်သည်။ အချို့ကလည်း ဘုန်း ကြီးတစ်ပါး ခေါင်းဆောင်သော မော်စကိုအရေးပေါ် စစ် သည်စုတပ်ဖွဲ့ဝင်များက ရန်သူတို့ကို “တောင်သုံးလုံး” ဒေသမှ ခုခံရန်ပြင်ဆင်လျက်ရှိကြောင်း ပြောကြ၍ အချို့ ကမူ မော်စကိုဂိုဏ်းချုပ်ကြီး ဩဂတ်စတင်းအား မြို့မှ ထွက်ခွာခွင့်မပြုဘဲထားကြောင်း၊ အတွင်းသူလျှိုများနှင့် သစ္စာဖောက်များကို ဖမ်းဆီးလျက်ရှိကြောင်း၊ တော ကျေးလက်များတွင် လယ်သမားများ သူပုန်ထလျက်ရှိပြီး မော်စကိုမှထွက်ပြေး လာသူများကို လုယက်လျက်ရှိကြောင်း စသဖြင့် အမျိုးမျိုးပြောဆိုလျက် ရှိကြလေ သည်။ ဤကား မော်စကိုမြို့တွင် ဖြစ်ပွားလျက်ရှိသော ကေလာဟလများ ဖြစ်ပေ သည်။ (ဤကောလာဟလများ ဖြစ်ပွားနေချိန်၌ မော်စကိုမြို့မှ ဆုတ်ခွာရန် ဆုံးဖြတ်သည့် စစ်ဦးစီးဌာန ချုပ်၏အရေးပေါ်အစည်းအဝေးကို ဖီလီဒေသတွင် ကျင်းပ ရခြင်းပင် မပြုသေးချေ။) မြို့ကို စွန့်ခွာထွက်ပြေးကြသူ များနှင့် တကွ မြို့

တွင် ကျန်ရစ်ခဲ့သူများအားလုံးကပင် ( ပါးစပ်က ထုတ်ဖော်မပြောကြသော်လည်း မော်စကိုမြို့ကို စွန့်ခွာကြရတော့မည်ကိုလည်းကောင်း၊ မိမိတို့ပစ္စည်းများ ကို ထုပ်ပိုးကာ အမြန်ဆုံးထွက်ခွာမှ ဖြစ်တော့မည်ကို • လည်းကောင်း အလိုလိုခံစား သိရှိနေကြလေသည်။ အခြေ အနေမှာ ရုတ်တရက်ပြောင်းလဲနိုင်ကြောင်း လူတိုင်း ကပင် မျှော်လင့်နေကြသော်လည်း စက်တင်ဘာလ ၁-ရက်နေ့ အထိ ထူးခြားသော အပြောင်းအလဲတစ်စုံတစ်ရာ မဖြစ် ပေါ်သေးချေ။ ကြိုးစင်သို့သွားလျက်ရှိသည့် ရာဇဝတ်ကောင် တစ်ယောက်သည် မကြာမီအတွင်း သေရတော့မည်ကို သိ သော်လည်း ဘေးပတ်ဝန်းကျင်ကို လှမ်းကြည့်ကာ `အင်္ကျီကို ဆွဲဆန့်ခြင်း၊ ဦးထုပ် ကို ပြင်ဆင်ခြင်းစသဖြင့် ဣမပျက်အောင် ကြိုးစားဟန်ဆောင်သကဲ့သို့ မော်စကို မြို့ကြီးသည်လည်း မကြာမီ ပျက်စီးတော့မည်ကို သိသော်  လည်း ခါတိုင်းကဲ့သို့ ပင် စည်ကားမြဲ စည်ကားလျက်ပင် ရှိလေသည်။

' မော်စကိုမြို့ကို ရန်သူ ပြင်သစ်တပ်များမသိမ်းမီ သုံးရက်အလို၌ မြို့စား ကြီး ရော့စတော့ဗ်၏ အိမ်သားစုမှာ အလုပ်ရှုပ်လျက် ရှိကြ၏။ အိမ်ထောင်ဦးစီးဖြစ် သော မြို့ စားကြီး ရော့စတော့ဗ်သည် ရထားတစ်စီးဖြင့် မြို့တွင်းသို့ လှည့်ပတ်ကာ သတင်းများကို စနည်းနာလျက်ရှိပြီး အိမ် သို့ပြန်ရောက်သည်နှင့်တစ်ပြိုင်နက် မော်စကိုမှ ရွှေ့ပြောင်း ရေးအတွက် ပြင်ဆင်ရန် ကသောကမျော စီမံလျက်ရှိ သော်လည်း ဘာမျှ အရာမရောက်လှချေ။

မြို့စားကတော်ကြီးမှာ ပစ္စည်းများထုပ်ပိုးပြင်ဆင် ကြသည်ကို ကြည့်လျက် ရှိရာက စိတ်တိုင်းမကျနိုင်ဘဲ အမျိုးမျိုး ပြစ်တင်ကြိမ်းမောင်းလျက် ရှိ၏။ ထို့နောက် မိမိအား ခပ်ရှောင်ရှောင်လုပ်နေသော ပီတာ့နောက်သို့ တကောက် ကောက်လိုက်လျက်ရှိပြီး ပီတာနှင့်တွဲဖက်ဖြစ် သည့် နာတာရှာတို့အသိုက်ကိုသာ မနာလိုဝန်တိုဖြစ်လျက် ရှိသည်။ ပစ္စည်းများကို ထုပ်ပိုးပြင်ဆင်ရာ၌ တကယ် ကြီးကြပ်စီမံရသူမှာ ဆွန်ယာသာလျှင် ဖြစ်ပေသည်။ သို့ ရာတွင် ဆွန်ယာကို

ကြည့်ရသည်မှာ စကားနည်းလျက် မျက်နှာ မကောင်းလှချေ။ ယင်းသို့ မျက်နှာမကောင်းရ ခြင်းမှာ နီကိုလေက ၎င်း၏စာထဲ၌ မင်းသမီးကလေးမေရီ နှင့် တွေ့ပုံကို ဖော်ပြထားခြင်း၊ နီကိုလေနှင့် မင်းသမီး ကလေးမေရီတို့ တစ်ဦးနှင့် တစ်ဦးတွေ့ဆုံကြပုံမှာ ဘုရား သခင်က စီမံဖန်တီးခြင်း ဖြစ်ပါပေသည်ဟု မြို့စားကတော် ကြီးသာ ဆွန်ယာရှေ့တွင် ဝမ်းပန်းတသာပြောဆိုနေခြင်း စသည် တို့ကြောင့် ဖြစ်လေသည်။

"နာတာရှာနဲ့ အင်ဒရေတို့ကိစ္စကို အစကတည်းက မေဖျား သဘောမကျဘူး။ တကယ်တော့ နီကိုလေနဲ့ မေရီ ကမှ ရှေ့သွားနောက်လိုက်ညီတာ။ တစ်နေ့မှာ သူတို့ နှစ် ယောက်နဖူးစာဆုံရမယ်လို့လဲ စိတ်ထဲမှာ ထင်နေတယ်။ ထင်တဲ့ အတိုင်း ဖြစ်လာရင်တော့ အတိုင်းထက် အလွန်ပဲ"

မြို့စားကတော်ကြီးက ပြော၏။

မြို့စားကတော်ကြီးဘက်ကကြည့်လျှင် မှန်သည်ဟု ဆွန်ယာ ယူဆ၏။ မြို့စားကြီးရော့စတော့ဗ် မိသားစုအား ချွတ်ခြုံကျဘဝမှကယ်တင်ရန် တစ်ခုတည်းသောနည်းလမ်း မှာ နီကိုလေအား သူကြွယ်သမီးတစ်ဦးနှင့် လက်ဆက်စေ သည့်နည်းသာဖြစ်၍ မင်းသမီးကလေးမေရီနှင့် ဆိုလျှင် အတိုင်းထက်အလွန် တံခွန်နှင့်ကုက္ကား ဖြစ်ပေလိမ့်မည်။

ဤအချက်ကို ဆွန်ယာ နားလည်ပါသည်။ ဤနည်းသည် မြို့စားကြီး ရော့စတော့ဗ် မိသားစုအဖို့ အသက်ရှူပေါက်ရ မည့်နည်းဖြစ်သော်လည်း ဆွန်ယာအဖို့ သော်ကား အသက်ရှူ ပိတ်မည့်နည်း ဖြစ်ပေသည်။ ဆွန်ယာသည် ဤအကြောင်းကို မေးလိုက်တိုင်း မချိလှသော်လည်း ထိုသုံးရက်အတွင်း ၌ကား ပစ္စည်းများ ထုပ်ပိုးပြင်ဆင်သည်ကို ကြီးကြပ်စီမံ ခြင်းစသည့် ပင်ပန်းခက်ခဲသောအလုပ်များကို တကုပ်ကုပ် လုပ်လျက်ရှိလေသည်။ (မချိလွန်းသောကြောင့် စိတ်ပြေ လက်

ပျောက်လုပ်ခြင်းလည်း ဖြစ်နိုင်ပါသည်။) မြို့စားကြီး ရှော့စတော့ဗ်နှင့် မြို့စား ကတော်ကြီးတို့ကား ထိုကိစ္စအဝဝ ကို လှည့်၍မကြည့်ကြဘဲ ခိုင်းစရာရှိမှ ဆွန်ယာ ကိုခေါ်ခိုင်း ကြ၏။ ပီတာနှင့် နာတာရှာတို့ကား ကူညီဖို့ဝေးစွ။ အလုပ် ဖင့်နွဲ့အောင် နေရာတကာဝင်ရှုပ်လျက်ရှိကြသည်။ ပီတာ နှင့် နာတာရှာသည် တစ်အိမ်လုံး ဟို ဝင်သည်ထွက်ဖြင့် ပြေးလွှားဆော့ကစားနေကြရာ တစ်အိမ်လုံး သူတို့ခြေသံ သာ လွှမ်းနေတော့သည်။ ထိုမျှမက ရယ်လား မောလား နောက်လားပြောင်လားဖြင့် မြူးနေကြသည်။ သို့ရာတွင် ရယ်စရာရှိသောကြောင့် ရယ်ခြင်း မဟုတ်ပါ။ အူရွှင် လျက် ရှိကြခြင်းကြောင့် ရယ်မောကြခြင်းသာ ဖြစ်ပါသည်။ ထို အချိန်၌ မြင်မြင် သမျှ၊ ကြားကြားသမျှသည် ၎င်းတို့အဖို့ ရယ်စရာဖြစ်လျက်ရှိကြ၏။ ပီတာအူရွှင် လျက်ရှိခြင်းမှာ အိမ်မှ ထွက်ခါစ လူလားမမြောက်တမြောက်ဖြစ်၍ အိမ် ပြန်လာ သောအခါတွင် လူပျိုချောဖားဖားကြီး ဖြစ်လာပြီ ဟု ဝိုင်းဝန်းချီးမွမ်းခံရခြင်း၊ အိမ် သို့ပြန်ရောက်၍ တစ်သိုက် ( တစ်ဝန်းတည်း နေရခြင်း၊ တိုက်ပွဲဖြစ်ရန် မျှော်လင့်ချက် မရှိသော ဗေလာယာဆားကော့ဒေသမှ ပြန်လာခဲ့ရခြင်း၊ မကြာမီ တိုက်ပွဲ ဖြစ်ပွားတော့မည်ဖြစ်သော မော်စကိုသို့ ရောက်ရှိနေခြင်းနှင့် အစ်မထွေး နာတာရှာနှင့်အတူ ကစား မြူးထူးရခြင်းတို့ကြောင့် ဖြစ်၏။ နာတာရှာ အူရွှင်လျက် ရှိခြင်းမှာကား ကာလကြာမြင့်စွာ စိတ်လက်မကြည်မသာ ဖြစ်ခဲ့ရခြင်း၊ ယခု အချိန်၌ ထိုစိတ်လက်မကြည်သာစရာ အကြောင်းများကို လွယ်လွယ်ဖြင့် မေ့ ပျောက်ရနေခြင်း၊ ယခင်ကကဲ့သို့ စိတ္တဇဖိစီးကာ တရှောင်ရှောင်မဖြစ်တော့ဘဲ ကျန်းမာလျက်ရှိခြင်းတို့ကြောင့် ဖြစ်ပေသည်။ ထို့ပြင် မိမိအား များစွာချစ်သော မောင်ငယ်ပီတာတစ်ယောက် ပြန်လည်ရောက်ရှိလာခြင်းကြောင့်လည်း ဖြစ်လေ သည်။ နာတာရှာ၏စိတ်စက်ယန္တရားကြီးမှာ ဘီးများကို လွတ်လပ် စွာ လည်ပတ် လှုပ်ရှားစေနိုင်သောအရာမှာ တစ်ဦးတစ် ယောက်၏ ချစ်မြတ်နိုးခြင်းဟူသော အမဲဆီဖြစ်လေရာ ယခု သော် မိမိအား မြတ်နိုးသော ပီတာတည်းဟူသော အမဲဆီ ကိုရရှိပြီ ဖြစ်သည့်အတွက် နာတာရှာ ယခုလို ပျော်ရွှင်မြူးထူးလျက်ရှိခြင်း ဖြစ်ပေ

သည်။ ထို့ပြင် ၎င်းတို့ နှစ်ဦးစလုံးအား အူရှင်စေသော အခြားအကြောင်းများလည်း ရှိသေး၏။ ယင်းတို့မှာ မော်စကိုမြို့အနီးတွင် တိုက်ပွဲ ဖြစ်ပွားလျက်ရှိခြင်း၊ မော်စကိုမြို့တံခါးတွင် တိုက်ပွဲများ ဖြစ်ပွားစရာ အလားအလာရှိခြင်း၊ မော်စကိုမြို့သူ မြို့သား များအား လက်နက်များ ထုတ်ပေးလျက် ရှိခြင်း၊ မော်စကို မြို့သူမြို့သားများ ထွက်ပြေးလျက်ရှိခြင်း၊ အချုပ်ဆိုရသော် ၎င်းတို့တစ်သက်တွင် တစ်ခါမျှမဖြစ်ပေါ် ဖူးသေးသော ထူးခြားဆန်းကြယ်သည့် အဖြစ်အပျက်ကြီးတစ်ခု ပေါ် ပေါက်လျက်ရှိခြင်း စသည်တို့ပင်ဖြစ်ရာ ထိုသို့သော အဖြစ် အပျက်များသည် အထူးသဖြင့် လူငယ်လူရွယ်များ၏စိတ် ကို တစ်မျိုးတစ်ဖုံလှုပ်ရှားစေသည်သာ ဖြစ်လေသတည်း။

# အခန်း ၁၃

စနေနေ့ဖြစ်သည့် ဩဂုတ်လ ၃၁-ရက်နေ့တွင် မြို့စားကြီး ရော့စတော့ဗ်၏ အိမ်တစ်အိမ်လုံးမှာ ယောက်ယက်ခတ် လျက်ရှိကြ၏။ တံခါးများ ပွင့်လျက်၊ အိမ်ထောင်ပရိဘောဂ များလည်း ပြန့်ကျဲလျက်၊ မှန်များနှင့် ပန်းချီကားချပ်များလည်း ဖရိုဖရဲဖြစ်လျက်ရှိ၏။ အိမ်ထဲ၌ကား သေတ္တာများ၊ ကောက်ရိုးများ၊ စက္ကူများ၊ ကြိုးများဖြင့် ရှုပ်ပွေလျက် ရှိသည်။ ပစ္စည်းများကို သယ်ပိုးလျက်ရှိသော မြေကျွန်များ နှင့် အစေတော်များသည်မှန်ကူကွက်ပုံ သစ်သားတိုင် ကလေးများ ခင်းထားသည့် ကြမ်းပြင်ပေါ်တွင် တဝုန်းဝုန်း တဒိုင်းဒိုင်းဖြင့် ဝင်ချည်ထွက်ချည် ကူးလူးလျက်ရှိကြ၏။ အိမ်ရှေ့ဝင်းထဲ၌ လှည်းများပြည့်ကျပ်လျက် ရှိ၍ အချို့ကား ပစ္စည်းတွေ နင့်နေအောင် တင်ပြီးသားဖြစ်ကာ ထုပ်ပိုး ချည်နှောင်ပြီးဖြစ်လျက် အချို့ကား အလွတ်ပင် ရှိကြ သေးသည်။

တောမှ လှည်းများဖြင့် ရောက်လာသော မြေကျွန် များ၊ အစေတော် များသည် တစ်ဦးကိုတစ်ဦး အော်ဟစ် ပြောဆိုလျက် ရှိကြလေရာ အိမ်ဝင်းကြီး တစ်ခုလုံးမှာလည်း သောသောညံလျက် ရှိပေ၏။ မြို့စားကြီး ရှော့စတော့ဗ်မှာ နံနက်ကတည်းက အိမ်မှထွက်သွားရာ ယခုထိ ပြန်မရောက် လာသေးချေ။ မြို့စား ကတော်ကြီးမှာကား ဆူညံလျက် ရှိသော ပြောင်းရွှေ့သံ၊ လှုပ်ရှားသံများကြောင့် ခေါင်းကိုက် လျက်ရှိသဖြင့် နားထင်ကို စပျစ်ဆီလူးကာ ဧည့်ခန်းဆောင် ထဲရှိ ထိုင် ဖုံတစ်ခုပေါ်တွင် လဲလျောင်းလျက် ရှိသည်။ ထိုအချိန်တွင် သားထွေးပီတာလည်း အိမ်တွင် မရှိချေ။ ပီတာသည် အရေးပေါ်စစ်သည်စု တပ်ဖွဲ့မှတပ်မတော်သို့ ပြန် ပြောင်း၍ အမှုထမ်းလိုသည့်အတွက် မိတ်ဆွေတစ်ဦးထံ သွားရောက် တွေ့ဆံ လျက် ရှိသည်။ ဆွန်ယာမှာ ဧည့်ခန်းတွင် ဖန်ထည်ပစ္စည်းများ၊ ပန်းကန်ခွက်ယောက် များ သိမ်းဆည်းထုပ်ပိုးသည်ကို စီမံခန့်ခွဲနေသည်။ နာတာ ရှာကား ၎င်း၏ခန်းဆောင်ထဲရှိ ကြမ်းပြင်ပေါ်တွင် ထိုင်ကာ အနီးတွင် ပြန့်ကျဲ လျက်ရှိသော ဝတ်စုံများ၊ ရင်သိမ်းအင်္ကျီများ၊ ဖဲကြိုးများနှင့် အလုပ်ရှုပ်လျက်ရှိရာမှ ပီတာစဘတ်ရွှေမြို့တော် ပထမဆုံးကပွဲတွင် ဝတ်ခဲ့သည့် ကပွဲဝတ်စုံဟောင်း (ပုံပန်းမှာ ခေတ် မမီတော့ပြီ။) ကို ကိုင်၍ကြည့်နေသည်။

တစ်အိမ်လုံး အသီးသီးအလုပ်လုပ်နေကြချိန်တွင် မိမိတစ်ဦးတည်း တာဝန်မဲ့ ဖြစ်လျက်ရှိခြင်းကြောင့် နာတာ ရှာသည် ရှက်သလိုလို ဖြစ်မိသည်။ ထို့ကြောင့် တစ်မနက် လုံး ဆွန်ယာကို ကူညီလုပ်ကိုင်ပေးရန် ကြိုးစားကြည့်၏။ သို့ရာတွင် နာတာရှာသည် အလုပ်ထဲ စိတ်မဝင်စား။ မည်သည့်အလုပ်မျိုးကို လုပ်ရမည်ဟု လည်း မသိချေ။ ပန်းကန်ခွက်ယောက်များကို ထုပ်ပိုးသိမ်းဆည်းနေချိန်၌ နာတာ ရှာသည် ဆွန်ယာအနီးတွင် တစ်ချိန်လုံးရပ်ကာ ကူညီလုပ်ကိုင်ပေးရန် ကြိုးစား ပြန်သည်။ သို့ရာတွင် နောက်ဆုံး၌ ထိုအကြံကိုလည်း လက်လျှော့လိုက်ကာ ခန်း ဆောင်သို့ ပြန်လာခဲ့ပြီး ၎င်း၏ပစ္စည်းများကို သိမ်း ဆည်းနေခြင်း ဖြစ်သည်။ အစ

ပထမသော် နာတာရှာသည် ၎င်း၏ဝတ်စုံများ၊ ဖဲကြိုးများကို အစေတော် မိန်းကလေးများ အား စွန့်ကြဲရသည့်အတွက် ပျော်သလိုလို ရှိသော်လည်း စွန့်ကြဲပြီး၍ မိမိယူဆောင်သွားမည့်ပစ္စည်းများကို သိမ်း  ဆည်းထုပ်ပိုးသောအခါတွင်ကား ငြီးငွေ့ လာပြန်သည်။

"ဒွန်ယာရှာ၊ နာတာရှာပစ္စည်းတွေကို သိမ်းပါလား ဟင်" နာတာရှာက အစေတော်မိန်းမကြီး ဒွန်ယာရှာကို ခိုင်းသည်။ ဒွန်ယာရှာက ၎င်း၏ပစ္စည်းများကို သိမ်းဆည်းထုပ်ပိုးနေချိန်၌ နာတာရှာသည် ကြမ်းပြင်ပေါ်တွင် ထိုင်ချလိုက်လျက် ကပွဲဝတ်စုံဟောင်းကြီးကို ကိုင်ကြည့်ကာ အတိတ်ကိုပြန်တွေး၍ ငိုင်နေမိသည်။ တစ်ဖက်ခန်းမှ အစေတော်များ၏စကားပြောသံနှင့် အနောက်ဆောင်ဘက် သို့ ခပ်သုတ်သုတ်လျှောက်သွားကြသော ခြေသံများကို ကြားတော့မှ သတိပြန်ရလာသည်။ နာတာရှာသည် ထ၍ ပြတင်းမှ အပြင်သို့ လှမ်းကြည့်လိုက်၏။ ဒဏ်ရာရသူများ ကို တင်ဆောင်လာသည့် ရောမလှည်းတန်းရှည်ကြီးသည် လမ်းမပေါ်တွင် ရပ်လျက် ရှိ၏။

အိမ်ထောင်ထိန်း မိန်းမကြီး၊ အထိန်းတော်ကြီး၊ စားတော်ကဲများ၊ ရထားသမားများ၊ အစေတော်မိန်းကလေး များ၊ အဆောင်ကိုင်များ၊ မြင်းထိန်းများသည် ဝင်းဝမှ ရပ်၍ စစ်သားလူနာများကို ငေးကြည့်နေကြသည်။

နာတာရှာသည် ခေါင်းတွင် ပဝါဖြူကိုစည်းကာ မေးအောက်မှ ပဝါမြိတ်စွန်း နှစ်ဖက်ကို လက်တစ်ဖက်စီ ဖြင့် ဆွဲလျက် လမ်းမသို့ ထွက်လာခဲ့၏။

အိမ်ထောင်ထိန်း မိန်းမကြီး မက်ဗရာသည် ဝင်းဝ တွင်ရပ်နေသော လူအုပ်ထဲမှ ထွက်ကာ လျှာဖျာများကို ပေါင်းမိုးသဖွယ် မိုးထားသည့် လှည်းတစ်စီးနားသို့ ရောက် သွားပြီး ပေါင်းမိုးအောက်တွင် လဲလျောင်းနေသည့် အသား အရေခပ်ဖျော့ဖျော့တပ်ဗိုလ်ကလေးတစ်ဦးနှင့် စကားပြော နေသည်။ နာတာရှာသည် ရှေ့နားသို့

တိုးသွားကာ ရှက် ကိုးရှက်ကန်းဖြင့် ရပ်နေပြီး မက်ဗရာနှင့် တပ်ဗိုလ်လေး တို့ စကားပြောနေကြသည်ကို နားထောင်နေသည်။

"မြို့ထဲမှာ ဘယ်သူမှ မရှိတော့ဘူး ဗိုလ်လေးရဲ့။ မြို့ထဲက အိမ်တွေပေါ်မှာ ခဏဝင်နားကြပါလား။ ကျုပ်တို့ အိမ်ဆိုရင် သခင်ကြီးတို့လဲ ရှိတော့မှာ မဟုတ်ဘူး။ ပြောင်းကြတော့မယ်" ။

"ခွင့်ပြုသလား မပြုသလားမှ မသိဘဲ။ ဖြစ်မယ် မထင်ပါဘူးခင်ဗျာ။ နေပါစေတော့။ ဟောဟော၊ ကျွန်တော် တို့ တပ်မှူး လာနေပြီ။ သူ့မေးကြည့်ပါလား" တပ်ဗိုလ် ကလေးက အသံခပ်သဲ့သဲ့ဖြင့် ပြန်ပြောကာ လှည်းကြား  ထဲမှ လျှောက်လာသောသန့်သန့်မာမာ ဗိုလ်မှူး တစ်ယောက် ကို ညွှန်ပြလိုက်၏။

နာတာရှာသည် ကြောက်ရွံ့သောမျက်လုံးများဖြင့် ဒဏ်ရာရတပ်ဗိုလ် ကလေး၏မျက်နှာကို ကြည့်လိုက်ပြီး ဗိုလ်မှူးကြီးထံသို့ လျှောက်လာခဲ့သည်။

"ဒီမှာရှင် ဗိုလ်မှူး၊ ဒဏ်ရာရတဲ့ စစ်သားတွေ ကျွန်မတို့အိမ်မှာ တည်းနိုင်ပါတယ်။ တည်းခွင့်ပေးလိုက် ပါလား" နာတာရှာလ ပြောလိုက်သည်။

ဗိုလ်မှူးသည် လက်ကို ဦးထုပ်သို့ ရောက်အောင် မြှောက်၍ အရိုအသေပြု လိုက်ပြီး ပြုံးလိုက်၏။

"ဒီထဲမှာ ခင်ဗျားတို့ တည်းခိုစေချင်တဲ့သူများ ပါပါသလားခင်ဗျာ" ဗိုလ်မှူး က မျက်လုံးများကို မှေး၍ ခပ်ပြုံးပြုံး ဆိုလိုက်လေသည်။

နာတာရှာက ယခင်အတိုင်းပင် ထပ်ပြောသည်။ နာတာရှာသည်မေးအောက် တွင် ပဝါမြိတ်စွန်းနှစ်ဖက်ကို စု၍ မချည်သေးဘဲ လက်နှစ်ဖက်ဖြင့် ကိုင်ထား သော်လည်း ၎င်း၏မျက်နှာအမူအရာနှင့် ဟန်ပန်မှာ လေးနက်တည်ငြိမ် သောအမူ

အရာကို ဆောင်လျက်ရှိရကား ဗိုလ်မှူးသည် နာတာရှာကို ပြုံး၍ကြည့်နေရာမှ မျက်နှာပိုးသတ်လိုက်ပြီး နောက် အတန်ကြာ စဉ်းစားနေသည်။

“သြော်၊ အားလုံးကို ဆိုလိုတာလား။ တည်းခို ချင်တဲ့သူပါရင် တည်းခိုနိုင်ပါတယ်။ တည်းနိုင်ပါတယ်”

နာတာရှာသည် ခေါင်းကို အသာအယာညိတ်ပြ ကာ လှည်းပေါ်မှ တပ်ဗိုလ်ကလေးနှင့် စကားပြောနေသော မက်ဗရာထံသို့ ပြန်လာ၏။

“မက်ဗရာ၊ ဗိုလ်မှူးက ပြောလိုက်တယ်။ တည်းခို ချင်တဲ့လူရှိရင် တည်းနိုင်တယ်တဲ့” နာတာရှာက မက်ဗရာ နားသို့ ကပ်၍ တိုးတိုးကလေး ပြောသည်။

သို့ဖြင့် တပ်ဗိုလ်ကလေးကို တင်ဆောင်လာသည့် လှည်းသည် မြို့စားကြီး ရော့စတော့ဗ်၏ စံအိမ်ဝင်းထဲ သို့ ချိုးဝင်လာပြီး အခြားသောလူနာတင်လှည်းများသည် လည်း ပိုဗာစကားယားလမ်းရှိ အိမ်ဝင်းအသီးသီးထဲသို့ - ချိုးဝင်သွားကြလေသည်။ နာတာရှာကား မြင်တွေ့နေကျ မဟုတ်သော လူသစ်များကို တွေ့ရသဖြင့် များစွာ စိတ် ဝင်စားလျက်ရှိသည်။ နာတာရှာနှင့် မက်ဗရာသည် လူနာ များ၊ လှည်းများ စံအိမ်ဝင်းထဲ မပြည့်မချင်း ဖိတ်ခေါ်နေ ကြ၏။

“သခင်မလေး၊ သခင်ကြီးဖျားကိုတော့ ပြောဦးမှ ပဲထင်တယ်။ တော်တော်ကြာ သခင်ကြီး ဆူနေလိမ့်မယ်” မက်ဗရာက သတိပေး၏။

“အို၊ ပြောနေစရာ မလိုပါဘူး မက်ဗရာရဲ့၊ ဒီ ကိစ္စက ဘာအပန်းကြီးတဲ့ကိစ္စမှတ်လို့။ နာတာရှာတို့က ပြောင်းတော့မှာဆိုတော့ စံအိမ်ကြီးကလဲ အားနေတာပဲ။ မသကာရင် ဧည့်ခန်းဆောင်ထဲမှာ နာတာရှာတို့ တစ် ရက်လောက် ရွှေ့ပေးရရုံ ရှိတော့မှာပေါ့”

“အို သခင်မလေးသဘောနဲ့ လျှောက်လုပ်လို့ တော်တော်ကြာ မက်ဗရာတို့ပါ ဒုက္ခများကုန်ဦးမယ် သခင်မလေးရဲ့။ ဘယ်နေရာမှာပဲထားထား သခင်ကြီး ဖျားကို တော့ ပြောပြဦးမှဖြစ်မယ် ထင်တယ်”

“ကဲ ကဲ၊ ဒါလောက်တောင် မက်ဗရာက ဖြစ်နေ ရင်လဲ နာတာရှာ ဖေဖျားကို သွားပြောမယ်”

နာတာရှာသည် အိမ်ထဲသို့ ပြေးဝင်သွားကာ တံခါး မဟာတဟာဖြစ်နေသော ဧည့်ခန်းဆောင်များသို့ ခြေဖျား ထောက်၍ လျှောက်လာခဲ့သည်။ ဧည့်ခန်းထဲ၌ စပျစ်ဆီနံ့ နှင့် ဇဝက်သာနံ့မှာ စူးရှနေသည်။

“မေဖျား အိပ်ပျော်နေပြီလား ဟင်”

“ဟင် မေဖျား အိပ်ပျော်သွားသလား။ ဟုတ် လား” မြို့စားကတော်ကြီးသည် မှေးခနဲ ဖြစ်သွားရာမှ နိုး လာသည်။

“အို၊ နာတာရှာက မေဖျား မှိန်းနေတယ်ထင်လို့ နှုးမိတာပါနော် နော်” နာတာရှာက မြို့စားကတော်ကြီး အနီးတွင် ဒူးထောက်ထိုင်လိုက်သည်။ “နာတာရှာကို မက်ဗရာကအပြောခိုင်းလိုက်လို့ မေဖျားရဲ့ ။ သူတို့ ဒဏ် ရာရလာတဲ့ တပ်ဗိုလ်အချို့ကို အိမ်ထဲခေါ်ထားတယ်တဲ့။ အိမ်ထဲမှာ တည်းခွင့်ပေးရမလားတဲ့။ တည်းခွင့်ပေးလိုက်ပါ မေဖျားရယ်။ ဘယ်မှာမှ တည်းစရာရှိဟန် မတူပါဘူး။ သနားပါတယ် နော် မေဖျား၊ တည်းခွင့်ပြုမယ် မဟုတ်လား ဟင် မေဖျား”

“ဘာ တပ်ဗိုလ်တွေ ဟုတ်လား။ နေစမ်းပါဦး။ ဘယ်သူက ခေါ်လို့ အိမ်ထဲ ရောက်လာကြပြန်တာလဲ။ ခက်လိုက်ပါဘိနော်”

နာတာရှာက ရယ်လိုက်၏။ မြို့စားကတော်ကြီးက  လည်း ပြုံးစိစိလုပ်နေသည်။

"မေဖျားက ခွင့်ပြုမယ် မဟုတ်လား။ ခွင့်ပြုတယ် လို့ နာတာရှာ ပြောလိုက်တော့မယ် နော် နော် မေဖျား" နာတာရှာသည် မိခင်မြို့စားကတော်ကြီး၏ နဖူးပြင်ကို နမ်းကာ ထွက်လာခဲ့သည်။

ညှော်ခန်းဆောင်ထဲသို့ရောက်သော် မြို့ထဲမှ သတင်း များကို စနည်းနာ၍ ပြန်လာသည့် ဖခင်မြို့စားကြီး ရော့ စတော့ဗ်နှင့်သွားတွေ့၏။ . ။

"အိမ်း လက်စသတ်တော့ ဖေဖျားတို့ချည်းပဲ ကျန်တော့တယ်ဟေ့၊ တစ်မြို့လုံး ဘယ်သူမှ မရှိတော့ဘူး။ ကလပ်လဲ ပိတ်ထားပြီ။ ရဲတွေတောင် ပြောင်းရွှေ့ကုန်ပြီ"

"ဖေဖျား၊ နာတာရှာလေ ဒဏ်ရာရတဲ့ တပ်ဗိုလ် လေးတွေကို သနားတာနဲ့ အိမ်ထဲခေါ်ထားလိုက်တယ်။ ကိစ္စမရှိပါဘူးနော် ဖေဖျား"

"အို၊ အရေးထဲမှာ ဒါတွေ ပြောမနေစမ်းနဲ့ သမီး ထွေး။ ကဲ အေးအေးဆေးဆေး လုပ်မနေနဲ့၊ ထုပ်ပိုးတန် တာကို ထုပ်ပိုးထားကြပေတော့။ ဖေဖျားတို့ မနက်ဖြန် ပြောင်းမယ်။ မနက်ဖြန် မနက်ဖြန်"

မြို့စားကြီး ရော့စတော့ဗ်သည် နာတာရှာ၏ စကား ကိုပင် ကောင်းစွာ နားမထောင်နိုင်တော့ဘဲ လက်စွဲတော် ကြီးနှင့် အစေတော်များကို အမိန့်ပေးလျက်ရှိ၏။

ညစာစားချိန်ရောက်သော် ပီတာ ပြန်ရောက်လာ ကာ ကြားခဲ့ရသော သတင်းများကို ပြောပြ၏။ မော်စကို မြို့သူမြို့သားများအား ကရင်မလင်နန်းတော်ထဲတွင် လက် နက်များ ထုပ်ပေးနေပြီဖြစ်ကြောင်း၊ မြို့ဝန်ရော့စတော့ချင် က နှစ်ရက်သုံးရက်ကြိုတင်၍ အရေးပေါ်စစ်မှုထမ်းများ ခေါ်ယူမည်ဟု ကြေညာထားသော်လည်း နက်ဖြန်တွင် အရေးပေါ်မြို့စောင့်တပ်ဖွဲ့ဝင်များက ရန်သူများကို

တောင် သုံးလုံးမှ ခံတော့မည်ဖြစ်ကြောင်း၊ တောင်သုံးလုံးတစ်ဝိုက် တွင် တိုက်ပွဲ အကြီးအကျယ် ဖြစ်ပွားနိုင်ကြောင်းဖြင့် ပြော ပြလေသည်။

စကားပြောနေစဉ် ပီတာ၏မျက်နှာမှာ ထက်သန် ပြင်းပြသောအသွင်ကို ဆောင်လျက်ရှိရာ မိခင် မြို့စား ကတော်ကြီးမှာ ပီတာ၏မျက်နှာကို ကြည့်၍ပင် ကြောက် လန့် စိုးရိမ်လျက် ရှိလေပြီ။ ဤအချိန်၌ ပီတာအား တိုက်ပွဲသို့ မသွားရဟု ပြောလိုက်ပါက (တိုက်ပွဲသို့သွားရန်  ဖင်တကြွကြွဖြစ်နေသော) ပီတာသည် ယောကျ်ားခားသွေး ဟူသောစကားမျိုး၊ အဖနိုင်ငံကို ကာကွယ်ရင်း သေရခြင်း သည် မြတ်သည်ဟူသော စကားမျိုးမှ အစ အဓိပ္ပာယ် မရှိသော စကားများကို ပြောဆိုပေလိမ့်မည်။ ထိုအခါ၌ မိမိသာ စိတ်ဆင်းရဲခြင်းဖြစ်ရကာခဲလေသမျှ သဲရေကျ ဖြစ်ရ တော့မည်ဟု တွေးမိသည်။ ထို့ကြောင့် တိုက်ပွဲ မဖြစ်ပွားမီ မော်စ ကိုမှ ထွက်ဖြစ်အောင် ထွက်၍ ပီတာကိုလည်း မိမိ တို့အား အစောင့်အရှောက် အဖြစ် မရအရ ခေါ်သွားမှ ဖြစ်မည်ဟုအောက်မေ့ကာ တိတ်တိတ်ပင်နေလိုက် သည်။ ညစာစားပြီးသည့်နောက်၌ကား မြို့စားကတော်ကြီးသည် ကြင်ရာတော် မြို့စားကြီး ရော့စတော့ဗ်ကို အပါးသို့ခေါ် ကာ မိမိအား မော်စကိုမှ ဝေးရာသို့ အ မြန်ဆုံးပို့ပေးပါမည့် အကြောင်း၊ ဖြစ်နိုင်က ယနေ့ညပင်ပြောင်းရွှေ့လိုကြောင်း မျက်ရည်စမ်းစမ်းဖြင့် ပြောပြခြင်း ပြုလေသည်။ မြို့စား ကတော်ကြီးသည် ခပ် စောစောကအထိ စိုးစဉ်းမျှ ကြောက် လန့်ဟန် မပြခဲ့သော်လည်း ယခုမူကား မိန်းမ တို့၏ ပဋိ သန္ဓေပါ အရည်အချင်းတစ်ခုဖြစ်သော မူယာမာယာမျိုးစုံ ကို အသုံးပြုလျက် ယနေ့ညမှ ပြောင်းရွှေ့ခြင်း မပြုလျှင် လိပ်ပြာလွင့်၍ သေဖွယ်ရာ သာရှိတော့ကြောင်းဖြင့် ပြော ဆိုခြင်း ပြုလေသည်။ ယခုအချိန်၌ မြို့စားကတော် ကြီးသည် မည်းမည်းမြင်သမျှကို ကြောက်လျက် ရှိလေပြီ။

## အခန်း ၁၄

မြို့စားကတော်ကြီး၏ မိတ်ဆွေ မဒမ်ဂူသည် မော်စကို မြို့ရှိ သမီးထံ လာရောက်လည်ပတ်လျက်ရှိရာ ထိုနေ့က မျောနစ္စကီလမ်းရှိ အရက်ဆိုင်၌ တွေ့ခဲ့ရသည့် ရှုခင်းကို မြို့စားကတော်ကြီးအား ပြောပြသည်တွင် မြို့စားကတော် ကြီးမှာ ထိုစကားကို ကြားပြီးကတည်းက မနေနိုင် မထိုင် နိုင်ဖြစ်အောင် ကြောက်လန့်လျက် ရှိလေသည်။ ထိုနေ့ နံနက်က မဒမ်ဂူသည် မျောနစ္စကီလမ်းအတိုင်း ကရထား စီး၍ ပြန်ခဲ့ရာ၌ အရက်ဆိုင်ရှေ့တွင် အရက်သမားတစ်စု သောင်းကျန်းလျက်ရှိသဖြင့် ရှေ့ဆက်၍ မသွားနိုင်ဘဲ လမ်းမြောင်တစ်ခုထဲသို့ ချိုးဝင်၍ ထွက်ပြေးခဲ့ရသည်။ ရထားသမား၏အဆိုအရ အရက်ဆိုင်ကို ဝင်ရောက်ဖျက် ဆီးပြီး အရက်စည်များကို ဖောက်သောက်ကုန်ကြပြီ ဖြစ် ကြောင်း၊ မြို့ဝန်ကလည်း ဤကိစ္စကို တားဆီးခြင်း မပြုရုံ မျှမက ဆိုင်များရှိပစ္စည်းများကို ဖောက်ယူကြရန်ပင် အမိန့်ပေးထားကြောင်းဖြင့် သိရလေသည်။

ညစာစားပြီးသည်နှင့် မြို့စားကြီးရော့စတော့ဗ်၏ အိမ်သားများသည် လက်ကျန်ပစ္စည်းများကို ကသော ကမျောထုပ်ပိုးကာ ပြောင်းရွှေ့ရန် ပြင်ဆင်လျက် ရှိကြ၏။ မြို့စားကြီး ရော့စတော့ဗ်မှာကား အိမ်ရှေ့နှင့် အိမ်နောက် ဝင်ချည်ထွက်ချည်ပြုကာ အလုပ်များလျက်ရှိသည့် အစေ တော်များအား ဩဇာအမျိုးမျိုးပေးလျက် ရှိ၏။ ပီတာသည် အိမ်ဝင်းထဲရှိ လှည်းများပေါ်သို့ ပစ္စည်းများတင်ရာတွင် စီမံခန့်ခွဲလျက်ရှိ၏။ ဆွန်ယာကား ခုတစ်မျိုး ခုတစ်မျိုး ဖြစ်နေသော မြို့စားကြီးရော့စတော့ဗ်၏ အမိန့်များကြောင့် မည်သည့်အရာကို လုပ်ရမည်မသိတော့ဘဲ ခေါင်းရှုပ်လျက် ရှိသည်။ အစေတော်များမှာလည်း အိမ်ထဲ အိမ်ပြင် ထွက်လိုက်ဝင်လိုက်ဖြင့် ထိုပစ္စည်းတင်ရကောင်းနိုး၊ ဤပစ္စည်း ချရကောင်းနိုးဖြင့် ငြင်းခုံလျက်ရှိကြ၏။ နာတာရှာမှာလည်း အများနည်းတူပင် အလုပ်များလျက် ရှိလေသည်။ အစ ပထမသော် နာတာရှာအား သက်သက်ဝင်ရှုပ်နေသည်ထင် ကာ အယုံအကြည်မရှိဖြစ်နေကြသည်။ အစေတော်များမှာ နာတာရှာ

နောက်တီးနောက်တောက် လုပ်လေ့ရှိသည့် အတွက် ခါတိုင်းကဲ့သို့ပင် ဝင်ရှုပ်နေသည်ထင်ကာ ခပ် ပေါ့ပေါ့ လုပ်နေကြသည်။ သို့ရာတွင် နာတာရှာက မိမိအား ဤသို့ မထီမဲ့မြင်ပြုနေကြသဖြင့် စိတ်ဆိုးလာကာ အော်ဟစ် ကြိမ်းမောင်းပစ်တော့မှ သူခိုင်းသမျှကို လုပ်ကြတော့သည်။ နာတာရှာ ပင်ပင်ပန်းပန်းလုပ်၍ စီမံခန့်ခွဲရသည့်အလုပ် မှာ ကြမ်းခင်းကော်ဇောများကို ထုပ်ပိုးရသောအလုပ် ဖြစ် ၏။ နာတာရှာတို့အိမ်၌ ဈေးကြီးပေး၍ ဝယ်ယူထားသော အဖိုးတန်ပါးရှားကော်ဇောကြီးများနှင့် ဂိုဘလင်ရွှေချည် ထိုးကန့်လန့်ကာကြီးများ ရှိ၏။ နာတာရှာက ထိုအဖိုးတန် ကော်ဇောကြီးများနှင့် ရွှေချည်ထိုးကန့်လန့်ကာကြီးများ ကို သိမ်း၍ ထည့်စေသည်။ သို့ဖြင့် ပွဲတက်ဆောင်ထဲက သေတ္တာကြီးနှစ်လုံးမှာ ကော်ဇောကြီးများ၊ ပန်းကန်ခွက် ယောက်များဖြင့် ပြည့်လျက် ရှိလေပြီ။ သို့ရာတွင် စားပွဲ ပေါ်၌ မသိမ်းရသေးသောပန်းကန်များ ကျန်နေသေးသည်။ ပစ္စည်းခန်းထဲတွင်လည်း ကျန်နေသေးသည်။ ထိုပစ္စည်း များကို ထည့်ရန် သေတ္တာမရှိတော့ချေ။

”ဆွန်ယာ၊ ဒီပစ္စည်းတွေကို ဒီသေတ္တာထဲမှာပဲ ရောထည့်ရအောင်။ နေဦး၊ နေဦး”

“ထည့်လို့ မရတော့ဘူး သခင်မလေး။ ကျွန်တော် တို့ ထည့်စမ်းကြည့်ပြီးပြီ” ဘဏ္ဍာစိုးက ပြော၏။

“အို၊ ဘာလို့ မရရမှာလဲ။ ဖယ်စမ်း” နာတာရှာ သည် သေတ္တာထဲမှ ဂျပ်ဘူးဖြင့် ထည့်ထားသော ပန်းကန် များနှင့် စက္ကူဖြင့်ထုပ်ထားသော ပန်းကန်ပြားများကို ထုတ်နေပြန်သည်။

“ဒီပန်းကန်တွေကို ကော်ဇောတွေကြားထဲမှာ ထည့်တော့ကော မဖြစ်ဘူးလား” နာတာရှာက ဆိုသည်။

"သေတ္တာသုံးလုံးစလုံး ကော်ဇောတွေချည်းပဲ ထည့် လို့ ဘယ်ဖြစ်မလဲ သခင်မလေးရဲ့ ။ ဒီပြင်ပစ္စည်းတွေကော ဘယ့်နှယ်လုပ်မလဲ"

"အသာနေစမ်း၊ နာတာရှာ ပြမယ်။ ဒါတွေကို သယ်လာလို့ ဘာမှ အသုံးမကျဘူး။ မလိုဘူး" နာတာရှာ သည် သေတ္တာထဲမှ ကိုယကက်နယ်လုပ် ပန်းကန်ပြားထုပ်များကို ရွေး၍ဖယ်ထုတ်နေသည်။ ပြင်သစ်လုပ် ဆက်ဇီနီ ပန်းကန်ချောထုပ်များကိုမူ သတ်သတ်ဖယ်ထားလိုက်၏။

"သူတို့ကို ကော်ဇောတွေကြားထဲမှာ ထည့်"

"နာတာရှာ၊ ဖယ်စမ်းကွယ်။ ဆွန်ယာတို့ဘာသာ လုပ်ပါ့မယ်" ဆွန်ယာက အပြစ်တင်သံဖြင့် ဆိုသည်။

"သခင်မလေးက တစ်မျိုးပဲဗျ" လက်စွဲတော်ကြီး က မှတ်ချက်ချ၏။

နာတာရှာမှာ ၎င်းတို့ကို ဂရုမပြုဘဲ အချို့ကို ဖယ်ထုတ်၍ အချို့ကို ပြန်လုပ်နေသည်။ အညံ့စား ရုရှား ကော်ဇောများနှင့် အပိုပန်းကန်ခွက်ယောက်များကို ယူရန် မလိုဟု ဆိုသည်။ ဤသို့ဖြင့် နာတာရှာသဘောကျ အချို့ ကို ဖယ်ထုတ်၍ အချို့ကို ပြန်ထုပ်ကြရပြန်သည်။ အဖိုး မတန်သောပစ္စည်းများကို ဖယ်ထုတ်ပြီးနောက် အဖိုးတန် ပစ္စည်းများကို ထည့်လိုက်သောအခါ သေတ္တာနှစ်လုံး ပြည့်သွား၏။ သို့ရာတွင် ကော်ဇောထည့်ထားသောသေတ္တာ ကြီးမှာ မောက်နေသဖြင့် ပိတ်မရတော့ချေ။ ထို့ကြောင့် ပစ္စည်းအချို့ကို ပြန်ထုတ်ရဦးမည် ဖြစ်၏။ သို့ရာတွင် နာတာရှာကား အလျှော့မပေးချေ။ ပစ္စည်းများကို အတင်း ဖိသိပ်ကာ မရအရထည့်နေသည်။ ၎င်းကိုယ်တိုင် ဖိပိတ် ၍ မရသောအခါ ဘဏ္ဍာစိုးနှင့် ပီတာကို တက်၍ အဖိ ခိုင်းသည်။ ပီတာမှာလည်း နာတာရှာ၏အမိန့်ဖြင့် အထုပ် အပိုး ပြင်သည့်နေရာသို့ ရောက်နေလေပြီ။

“တော်ပြီ၊ တော်ပြီ နာတာရှာ။ အပေါ်က ပစ္စည်း တစ်ခုလောက်ထုတ်လိုက်ရင် ရပြီ” ဆွန်ယာက ဆို၏။

“အို၊ မထုတ်ပါဘူး။ မထုတ်ဘဲ ရပါတယ်” နာ တာရှာက ချွေးပြန်နေသောမျက်နှာပေါ်သို့ ကျနေသည့် ဆံပင်များကို လက်တစ်ဖက်ဖြင့် နောက်သို့ လှန်လိုက်ပြီး အခြားတစ်ဖက်ဖြင့် ကော်ဇောများကို ဖိသိပ်နေသည်။

“နာနာဖိပါ ပီတာရဲ့။ ဗာစီလစ်၊ ဖိစမ်းပါ။ ဘာ လုပ်နေတာလဲ” နာတာရှာက အော်လိုက်သည်။

နောက်ဆုံး၌ ကော်ဇောများ ပိကျသွားပြီး သေတ္တာ ကိုပိတ်၍ ရလေတော့သည်။ နာတာရှာသည် လက်ခုပ် လက်ဝါးတီးကာ ဝမ်းသာအားရ အော်၏။ မျက်လုံးတွင် လည်း မျက်ရည်တွေ ဝဲနေသည်။ ခဏကြာလျှင် နာတာရှာ သည် နောက်သေတ္တာတစ်ခုတွင် ပစ္စည်းများကို ထည့် ပြန်သည်။

ဤတစ်ကြိမ်၌ကား နာတာရှာကို ယုံကြည်သွားကြ ပေပြီ။ နာတာရှာ၏အမိန့်ကို လက်ခံသွားကြလေပြီ။ မြို့ စားကြီး ရော့စတော့ဗ်မှာ နာတာရှာက သူပြောသည့်အတိုင်း မလုပ်ဘဲ သူ့သဘောနှင့် သူလုပ်နေသည်ကို သိသော် လည်း စိတ်မဆိုးတော့ချေ။ အစေခံများကလည်း ယခုမှ နာတာရှာထံရောက်လာကြကာ လှည်းများပေါ်တွင် ပစ္စည်း များ နောက်ထပ်တင်ဖို့ လိုမလို၊ ကြိုးစည်းဖို့ လိုမလို လာ ရောက်မေးကြတော့သည်။ နာတာရှာကြောင့် ပစ္စည်းများ ထုပ်ပိုးခြင်းမှာ ချောချောမောမောပြီးသွားလေပြီ။ အဖိုး မတန်သောပစ္စည်းများကို ဖယ်ထုတ်၍ အဖိုးတန်ပစ္စည်း များကို စုံနိုင်သလောက် စုံအောင် ထုပ်ပိုးပြီးလေပြီ။

သို့ရာတွင် ညဉ့်နက်သည့်တိုင်အောင် ထုပ်ပိုး သိမ်းဆည်းသည့်စခန်းမှာ အပြီးမသတ်သေးချေ။ မြို့စား ကတော်ကြီးမှာ အိပ်ပျော်နေပေပြီ။ မြို့စားကြီး ရော့

စတော့ဗ် မှာလည်း ပစ္စည်းများထုပ်ပိုး'မပြီးသေး၍ မနက်ဖြန်နံနက် ကျမှ ထွက်ခွာတော့မည်ဟု ပြောဆိုကာ အိပ်ရာဝင်ပေပြီ။

ဆွန်ယာနှင့် နာတာရှာကား အဝတ်အစားပင် မလဲနိုင်တော့ဘဲ ဧည့်ခန်းဆောင်ထဲမှာပင် မောမောနှင့် အိပ်ပျော်သွားကြသည်။

ထိုနေ့ညတွင် အခြားလူနာတစ်ယောက်ကို တင်  လာသော ကရထားတစ်စီးသည် ပိုဗာစကားယားလမ်း အတိုင်း မောင်းလာလေသည်။ မြို့စားကြီး ရော့စတော့ဗ်၏ စံအိမ်ဝင်းဝတွင် ရပ်နေသည့် အိမ်ထောင်ထိန်း မိန်းမကြီး မက်ဗရာသည် ထိုကရထားနှင့်တကွ လူနာကို အိမ်ဝင်းထဲ ဝင်စေသည်။ မက်ဗရာ၏အဆိုအရ ထိုလူနာမှာ အရေးကြီး သောလူနာတစ်ဦးဖြစ်ဟန်ရှိသည်ဟု ဆို၏။ ထိုလူနာကို တင်လာသည့်ကရထားမှာ မင်းညီမင်းသားများသာ စီးလေ့ ရှိသော ပေါင်းမိုးနှစ်ထပ်မိုးထားသည့် ကရထားဖြစ်၍ အထဲတွင် လူနာကို အဝတ်တစ်ထည်ဖြင့် ဖုံးထား၏။ ရထားလှည်း၏အမိုး၊ ရထားသမားထိုင်ဖုံပေါ်တွင်လည်း ရထားသမားအပြင် လက်စွဲတော်တစ်ဦး လိုက်ပါလာ၏။ သမားတော်တစ်ဦးနှင့် စစ်သားနှစ်ဦးက ရထားနောက်မှ လှည်းတစ်စီးဖြင့် လိုက်ပါလာကြသည်။

“မောင်ကြီး၊ ကျုပ်တို့ဝင်းထဲ ဝင်နားပါလား။ သခင်ကြီးဘုရားတို့ မနက်ဖြန်ပြောင်းကြတော့မှာမို့ စံအိမ် ကြီးလဲ အားတော့မှာပါ” မက်ဗရာက လက်စွဲတော်အဘိုး ကြီးကို လှမ်းပြောသည်။ .

”အိမ်း၊ ကျေးဇူးပါပဲဗျာ” လက်စွဲတော်အဘိုးကြီး က သက်ပြင်းချ၏။ “လူနာကြည့်ရတာ အခြေအနေ မကောင်းဘူးဗျ။ ကျုပ်တို့စံအိမ်တော်လဲ ဒီမြို့ထဲမှာ ရှိတာပဲဗျ။ ဒါပေမဲ့ နည်းနည်းလှမ်းသေးတယ်။ ပြီးတော့ စံအိမ်တော်မှာလဲ ဘယ်သူမှ မရှိတော့ဘူး”

“ဒီလိုဆိုရင်လဲ ကျုပ်တို့စံအိမ်မှာပဲ ဝင်နားလိုက် ပေါ့ မောင်ကြီးရယ်။ သခင်ကြီးဘုရားတို့ စံအိမ်မှာ အစစ အရာရာ အပြည့်အစုံရှိပါတယ်။ မပူပါနဲ့ လာ လာ။ လူ နာက တော်တော်အခြေအနေ ဆိုးသလား”

လက်စွဲတော်အဘိုးကြီးက စိတ်ပျက်လက်ပျက် အမူအရာဖြင့် ခေါင်းယမ်းပြသည်။

“ကျုပ်တို့ စံအိမ်တော်ထိအောင် မောင်းလို့တော့ မဖြစ်ဘူး ထင်တာပဲ။ နေဦးလေ။ သမားတော်ကြီးကို မေးကြည့်ရဦးမှာပဲ”

လက်စွဲတော်အဘိုးကြီးသည် ကရထားအမိုးပေါ်မှ ဆင်းကာ နောက်လှည်းဆီသို့ လျှောက်သွား၏။

”ကောင်းသားပဲ” ဟူသော သမားတော်၏အသံကို ကြားလိုက်ရ၏။

လက်စွဲတော်အဘိုးကြီးသည် ကရထားဆီသို့ ပြန်  လာကာ အထဲသို့ ငုံ့ကြည့်လိုက်ပြီးနောက် ခေါင်းကို ဖြည်းလေးစွာ ယမ်း၍ ရထားသမားအား မြို့စားကြီးရော့စတော့ဗ်၏စံအိမ်ဝင်းထဲသို့ ဝင်ရန်ပြောလျက် မက် ဗရာအနီးတွင် ရပ်နေသည်။

“ဘုရားသခင် စောင်မပါစေတော်” မက်ဗရာက ခပ်တိုးတိုး ဆုတောင်းလိုက်သည်။

လူနာအား စံအိမ်ထဲသို့ ပြောင်းရွှေ့ရန် မက်ဗရာက ( ပါလာသူများကို ပြောလိုက်သည်။

“သခင်ကြီးဘုရားက ခွင့်ပြုပါတယ်။ ရွှေ့သာ ရွှေ့ပါ”

သို့ရာတွင် လူနာများကို စံအိမ်ပေါ်သို့ တင်ခွင့် မပြုသဖြင့် လက်ဝဲဘက် အဆောင်ဆီသို့ မ,သွားကာ တစ်ခါက မဒမ်ရှေ့တည်းခိုခဲ့သော ခန်းဆောင်ထဲတွင် ထားလိုက်ကြ၏။

ဒဏ်ရာရလာသော လူနာကား အခြားသူ မဟုတ်။ တစ်ခါက နာတာရှာနှင့် စေ့စပ်ကြောင်းလမ်းခဲ့ဖူးသော မင်းသားကလေးအင်ဒရေပေတည်း။

# အခန်း ၁၅

မော်စကိုမြို့၏နောက်ဆုံးနေ့သည် ရောက်လာခဲ့လေပြီ။ ထိုနေ့မှာ တနင်္ဂနွေနေ့ ဖြစ်လျက် ကြည်လင်ဝင်းထိန်သော နွေနှောင်းရာသီ နေ့တစ်နေ့ ဖြစ်၏။ မြို့ထဲရှိ ဘုရားရှိခိုး ကျောင်းများမှ ခေါင်းလောင်းသံများသည် ခါတိုင်း တန င်္ဂ နွေနေ့များကဲ့သို့ ဆူညံစွာမြည်ဟည်းလျက်ရှိကြ၏။ မော် စကိုမြို့သူမြို့သား များကား ၎င်းတို့မြို့ကြီးကို တဖြည်းဖြည်း ဝါးမျိုလျက်ရှိသည့် ကြမ္မာဆိုးကြီးကို ရိပ်မိပုံမရသေးချေ။

ထိုအချိန်က မော်စကိုမြို့၏ လူမှုအခြေအနေကို ထောက်ပြနေသောအရာ မှာ နှစ်ခုသာ ရှိ၏။ ၎င်းတို့ကား အုပ်ဖွဲ့၍သွားလာနေကြသော ဆင်းရဲသားများနှင့် ကုန်စျေး နှုန်းများ ဖြစ်၏။ စက်ရုံအလုပ်သမားများ၊ အစေခံများ၊ လယ်သမားများ အပြင် အရာထမ်းများ၊ စာသင်တိုက်များမှ စာသင်သားများနှင့်တကွ မြေရှင်အချို့ သည် စုဝေးကြ ကာ နံနက်စောစောကတည်းက တောင်သုံးလုံးသို့ ထွက် သွား ကြ၏။ တောင်သုံးလုံး၌ မြို့ဝန်ရော့စတော့ဗ်ချင်ကို စောင့်သော်လည်း အချိန် တိုင်၍ မရောက်လာသောအခါ၌ ကား မော်စကိုမြို့ကို ရန်သူ့လက်အပ်ရတော့ မည်မှာမြေကြီး လက်ခတ်မလွဲတော့ကြောင်း သဘောပေါက်လာခဲ့ကြလေ ပြီ။ လူ အုပ်ကြီးသည် လူစုကွဲ၍ မြို့ထဲသို့ ပြန်လာခဲ့ကြပြီး အရက်ဆိုင်များနှင့် ပျော်ပွဲစားရုံ

များတွင် တရုန်းရုန်းဖြစ် လျက် ရှိကြလေသည်။ ထိုနေ့က မော်စကိုဦ ကုန်စျေးနှုန်းများကလည်း အခြေအနေကို ဖော်ပြလျက် ရှိပေသည်။ လက်နက်စျေးနှုန်း၊ ရွှေစျေးနှုန်း၊ မြင်းစျေးနှုန်း၊ လှည်းစျေး နှုန်းစသည့် စျေးနှုန်းများသည် ခေါက်ချိုးမကတက်လာ ခဲ့၏။ သို့ရာတွင် ငွေစက္ကူတန်ဖိုးနှင့် မော်စကိုမြို့သုံး ဒင်္ဂါးတန်ဖိုးမှာကား ဒလဟောကျဆင်းလျက်ရှိလေရာ မွန်းတည့်ချိန်လောက်၌ကား အထည်အလိပ်စသော အဖိုး တန်ပစ္စည်း လှည်းတစ်စီးတိုက်အတွက် ပေးရသောအခါ ကြေးငွေမှာလှည်းပါ ပစ္စည်းတစ်ဝက် ဖြစ်လာလေသည်။ မြင်းတစ်ကောင်၏စျေးနှုန်းမှာလည်း ငွေဒင်္ဂါးငါးရာအထိ ဖြစ်လာခဲ့လေသည်။ အိမ်ထောင်ပရိဘောဂ၊ မှန်နှင့် ကြေးပန်းအိုးများမှာကား မလိုချင်အဆုံးဖြစ်လျက်ရှိ၏။

မြို့စားကြီးရော့စတော့ဗ်၏ ရှေးစံအိမ်ကြီး၌ကား ထူးခြားချက် မရှိလှသေးချေ။ တစ်ခုတည်းသော ထူးခြား ချက်မှာ မြောက်မြားလှစွာသောမြေကျွန်များအနက် ညစဉ် သုံးယောက်ကျ ပျောက်ပျောက်သွားကြခြင်း ဖြစ်၏။ ထိုမှ လွဲ၍ ပစ္စည်းအပျောက်အရှဟူ၍ မရှိသေးချေ။ မြို့စားကြီး ရော့စတော့ဗ်၏ပစ္စည်းများပြောင်းရွှေ့ရေးအတွက်မှာမူ ပိုင်စားနယ်မြေများရှိ လယ်လုပ်သားများထံမှ လှည်းအစီး သုံးဆယ် ရောက်ရှိလာပြီဖြစ်လေသည်။ မြို့စားကြီး ရော့စတော့ဗ်သည် ထိုလှည်းအစီးသုံးဆယ်ကို ငွေကြေး အမြောက်အမြားပေးကာ ဝယ်ယူခဲ့ရခြင်းဖြစ်၏။ မြို့စား ကြီး ရော့စတော့ဗ်အဖို့ လှည်းများနှင့် မြင်းများကို ငွေကြေး အမြောက်အမြားပေး၍ ဝယ်ခဲ့ရရုံမျှမက မနေ့ညနေနှင့် စက်တင်ဘာလ ၁-ရက်နေ့ကဆိုလျှင် ဒဏ်ရာရ၍ ဆုတ် ခွာလာရသောတပ်မိုလ်များ၏ တပ်လုလင်များ၊ အစောင့် တပ်သားများသည် မြို့စားကြီး ရော့စတော့ဗ်၏ အိမ်ဝင်းထဲ သို့ တဖွဲဖွဲရောက်လာကြလျက် မိမိ၏အိမ်နှင့် တကွ အနီး အနားရှိအိမ်များထဲမှ ဒဏ်ရာရလျက်ရှိသော တပ်သား တပ်မိုလ်များသည်လည်း ဒရွတ်တိုက်၍ ဒယီးဒယိုင်ဖြင့်ထွက်လာကြကာ မိမိတို့အား မော်စကိုမြို့ပြင်သို့ တင်၍ ခေါ်သွားကြရန် အစေခံ

များထံ တောင်းပန်လျက် ရှိကြ လေသည်။ ဒဏ်ရာရတပ်သားတပ်ဗိုလ်များ ပတ်လည် ဝိုင်းလျက်ရှိသည့် မြို့စားကြီး ရှော့စတော့ဗ်၏ လက်စွဲတော် ကျွန်ယုံ ကြီးသည် ၎င်းတို့ကိုကြည့်ကာ စိတ်မကောင်းဖြစ် လျက် ရှိသော်လည်း မိမိမှာတင် ခေါ်ဖို့ မပြောနှင့် ထို အကြောင်းကို သခင်မြို့စားကြီးကိုပင် အသိမပေးရဲကြောင်း ဖြင့် အကြောက်အကန်ငြင်းလွှတ်လျက် ရှိလေသည်။ ဒဏ်ရာရသူများကို ကြည့်ရ သည်မှာ သနားစရာကောင်း သည် မှန်သော်လည်း မတတ်နိုင်တော့ချေ။ သနား၍ တစ်ယောက်ကို စတင်လိုက်မိလျှင် နောက်တစ်ယောက်ပြီး တစ်ယောက် ပေါက် လာကြကာ လှည်းတွေရော၊ ကရထား ရော အားလုံး လူနာတင်လှည်းချည်း ဖြစ် မည်သာ ရှိတော့ သည်။ ထိုမျှမက ဒဏ်ရာရသူအားလုံးကို လှည်းအစီးသုံး ဆယ် နှင့် အပြည့် တင်သည်ပဲထားဦး။ ဆင့်ပါးစပ် နှမ်း ပက်သကဲ့သို့ ရှိမည်။ ဤသို့ အရေးကြုံလာချိန်၌ မိမိ အတွက်နှင့်တကွ သားမယားဆွေမျိုးများ၏ မျက်နှာကို လည်း ငဲ့ရပေလိမ့်ဦးမည်။ မြို့စားကြီး ရှော့စတော့ဗ်၏လက်စွဲ တော်ကျွန်ယုံကြီး သည် မြို့စားကြီး၏ကိုယ်စား ဤသို့ တွေးမိကာ လာ၍ တောင်းပန် ဒဏ်ရာရတပ် ဗိုလ် တပ်သား များအားလုံးကို အကြောက်အကန် ငြင်းလွှတ် လျက်ရှိလေ သည်။

ထိုနေ့နံနက်၌ မြို့စားကြီးရှော့စတော့ဗ်သည် အိပ် ရာမှ နိုးသည်နှင့် တစ်ပြိုင်နက် နံနက်လင်းခါနီးမှ အိပ်ပျော် သွားသော မြို့စားကတော်ကြီး မနိုးစေ ရန် ခြေဖျားထောက် ၍ အသာအယာ အိပ်ရာထဲမှ ထွက်လာခဲ့ပြီး၊ မရန်းစွေ ရောင် ညအိပ်ဝတ်ရုံကြီး ဖိုးရိုးဖားရားဖြင့် ဆင်ဝင်အောက် သို့ ထွက်လာခဲ့၏။ စံအိမ်ဝင်း ထဲ၌မူ လှည်းများ ကပြီး၍ အဆင်သင့်ပင် ဖြစ်နေလေပြီ။ ကရထားများလည်း ဆင်ဝင် အောက်သို့ ရောက်နေလေပြီး၊ လက်စွဲတော်ကျွန်ယုံကြီး သည် ဆင်ဝင်ဝ တွင် ရပ်လျက် အသက်ခပ်ကြီးကြီး တပ် လုလင်နှင့် လက်မောင်းတစ်ဖက်ကို ပတ်တီးစည်းထားပြီး မျက်နှာဖြူရော်နေသော ခပ်ရွယ်ရွယ် တပ်ဗိုလ်ကလေး တစ် ဦးကို စကားပြောလျက် ရှိ၏။ သခင်မြို့စားကြီး ရှော့စတော့ဗ်ကို မြင်လိုက်

သည်နှင့် လက်စွဲတော်ကျွန်ယုံ ကြီးသည် တင်းမာသောအသွင်သို့ ရုတ်ခြည်း ပြောင်းလိုက် ပြီး ထိုသူများကို လက်ဟန်ခြေဟန်ဖြင့် နှင်လွှတ်နေသည်။

"ဘယ့်နှယ် လက်စွဲတော်ကြီး၊ အားလုံး အဆင် သင့် ဖြစ်ပြီလား" မြို့စားကြီး ရှော့စတော့ဗ်သည် ၎င်း၏ ပြောင်တင်းသောခေါင်းကို လက်ဖြင့်ပွတ်ရင်း တပ်ဗိုလ် ကလေးနှင့် တပ်လုလင်ကို ဖော်ရွေစွာကြည့်ပြီး ခေါင်းညိတ် နှုတ်ဆက်လိုက်၏။ (မြို့စားကြီးရှော့စတော့ဗ်သည် မျက်နှာ စိမ်းမြင်လျှင် အလွန်စကားပြောချင်သူ ဖြစ်သည်။)

"မှန်ပါ၊ အားလုံးအဆင်သင့်ပါ သခင်ကြီး"

"အိမ်း၊ မြို့စားကတော်ကြီး နိုးတာနဲ့ ကျုပ်တို့ သွားကြမယ်ဗျ။ ဒီက တပ် ဗိုလ်လေးများက ဘာကိစ္စတဲ့ လဲ။ ဗိုလ်လေးတို့၊ ကျုပ်အိမ်မှာ စခန်းချကြမလို့ လား" မြို့စားကြီးရှော့စတော့ဗ်က တပ်ဗိုလ်ကလေးဘက်သို့ လှည့် ၍ မေး လိုက်၏။

တပ်ဗိုလ်ကလေးသည် မြို့စားကြီး ရှော့စတော့ဗ် အနီးသို့ ကပ်လာ၏။ ၎င်း၏မျက်နှာသည် ဖြူရော်နေရာ မှ သွေးရောင်လျှမ်းစ ပြုလာ၏။

"မြို့စားကြီး ခင်ဗျာ။ မြို့စားကြီးရဲ့ လှည်းတစ်စီး စီးပေါ်မှာ ကျွန်တော်တို့ လိုက်ပါရစေခင်ဗျာ။ လှည်းနောက် မီးခို လိုက်ဆိုလဲ လိုက်ပါ့မယ်။ ဒီမှာ ဆွေမျိုးလဲ မရှိ၊ အသိ မိတ်ဆွေလဲ မရှိပါဘူး။ ဝန်တင်လှည်းပေါ် လိုက်ဆိုလဲ"

တပ်ဗိုလ်ကလေး၏စကားမဆုံးမီ တပ်လုလင်က လည်း မိမိ၏တပ်ဗိုလ် ကလေးကို အလားတူ လိုက်ခွင့်ပြု ပါရန် ပြောဆိုပြန်သည်။

"အို၊ အို၊ လိုက်ပါမောင်။ လိုက်ရပါတယ်။ လိုက်ရပါတယ်" မြို့စားကြီးရှော့စ တော့ဗ်က ခပ်သွက် သွက် ပြန်ပြောလိုက်သည်။ "မောင်ရင်တို့ပါရင် ကျုပ်တို့ အဖို့

လဲ ဘေးကင်းတာပေါ့။ လက်စွဲတော်ကြီး၊ ကြည့်ပြီး နေရာချပေးဗျာ။ လှည်းတစ်စီး နှစ်စီးလောက်က ပစ္စည်း တွေ ချပစ်ခဲ့ပြီး သူတို့ကို ပေးလိုက်ပါ။ အဲ၊ ကောင်းသလို ကြည့်စီစဉ်လိုက်ဗျာ”

မြို့စားကြီးရှော့စတော့ဗ်က ဤသို့ မရေမရာ အမိန့်ပေးလိုက်သည်။

မြို့စားကြီး ရှော့စတော့ဗ်၏ စကားကို ကြားလိုက် သည်နှင့် တပ်မိုလ် ကလေး၏မျက်နှာမှာ လွန်စွာကျေးဇူး တင်ဟန်ဖြင့် ဝင်းထိန်လာလေသည်။ မြို့စားကြီး ရှော့ စတော့ဗ်သည် ဘေးပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက် ပြန်သည်။ ဝင်းထဲတွင် လည်းကောင်း၊ ဝင်းတံခါးဝတွင် လည်းကောင်း၊ လက်ဝဲဘက် အဆောင်ပြတင်းဝတွင် လည်းကောင်း ဒဏ်ရာရသူ တပ်မိုလ်များ၊ ၎င်းတို့၏ တပ် လုလင်များ တင်းကျမ်းပြည့်လျက်ရှိသည်ကို မြင်ရ၏။ ၎င်းတို့အားလုံးသည် မြို့စား ကြီး ရှော့စတော့ဗ်ကို လှမ်း၍ ကြည့်နေကြရာက မြို့စားကြီး ရှော့စတော့ဗ်ရှိရာ ဆင်ဝင် ၊ အောက်သို့ လာနေကြသည်။

“သခင်ကြီးဘုရား၊ ပန်းချီခန်းထဲ ဝင်ကြည့်ပါဦး ဘုရား။ ပန်းချီကားချပ်တွေ ကို ဘယ်လို စီမံရမှာလဲဘုရား” လက်စွဲတော်ကျွန် ယုံကြီးက ပြော၏။

. မြို့စားကြီး ရှော့စတော့ဗ်သည် လက်စွဲတော်ကျွန် ယုံကြီးနှင့်အတူ အိမ်ထဲ သို့ ပြန်ဝင်လာ၏။ ပါးစပ်ကလည်း ဒဏ်ရာရသူများက လိုက်ပါရန် လာ၍ တောင်းပန်လျှင် မငြင်းဖို့အကြောင်း တဖွဖွပြောလာသည်။

“အေးလေဗျာ။ လိုက်မယ့်လူ သိပ်များနေရင်လဲ တချို့ ချတန်တဲ့ပစ္စည်းတွေ ချပစ်ခဲ့တာပေါ့ ဟုတ်စ” မြို့စားကြီး ရှော့စတော့ဗ်က အခြားသူများ ကြားမည်ကို စိုးရိမ်သည့်ဟန် လေသံကလေးဖြင့် ပြောလိုက်၏။

နံနက်ကိုးချက်တီးချိန်တွင် မြို့စားကတော်ကြီး အိပ်ရာမှ နိုးလာလေသည်။ မြို့စားကတော်ကြီး အပျိုတုန်း က အပျိုဖော်ဖြစ်ခဲ့၍ ယခုအချိန်တွင် လက်စွဲတော်ကြီး အဖြစ် ဆောင်ရွက်နေသည့် မက်ထရီနာသည် မြို့စား ကတော်ကြီးထံ ရောက်လာကာ မဒမ်ရှေ့မှာ ဘယ့်အတွက် ကြောင့် မသိ စိတ်ဆိုးလျက်ရှိကြောင်း၊ ထို့ပြင် နာတာရှာ တို့ မိန်းကလေးများ၏ဝတ်စုံများကိုလည်း ချန်ထား၍ မဖြစ်ကြောင်းဖြင့် ပြောဆိုလေရာ မြို့စားကတော်ကြီးမှာ မက်ထရီနာ၏စကားကို နားမလည်နိုင်ဘဲဖြစ်လျက် ရှိ၏။ စုံစမ်းကြည့်သောအခါတွင်ကား မဒမ်ရှေ့စိတ်ဆိုးရခြင်းမှာ ၎င်း၏သေတ္တာများကို လှည်းပေါ်မှချ၍ ချန်ထားခဲ့သည့် အတွက် ဖြစ်ကြောင်း သိရ၏။ ထိုမှ့မက မြို့စားကြီးရှေ့ စတော့ဗ်က ဒဏ်ရာရသူများကို သနားသောကြောင့်လှည်း များဖြင့် တင်ခေါ်လိုသဖြင့် ၎င်း၏အမိန့်အရ အချို့သော ပစ္စည်းများနှင့် သေတ္တာများကိုပါ ပြန်ချနေကြောင်းဖြင့် လည်းသိရလေသည်။ မြို့စားကတော်ကြီးသည် ချက်ချင်း ပင် ကြင်ရာတော် မြို့စားကြီးရှေ့စတော့ဗ်ကို အခေါ်လွှတ် လိုက်သည်။

“မြို့စားကြီး ဘယ်လိုလုပ်တာလဲ ဟင်၊ ပစ္စည်းတွေ ကို လှည်းပေါ်က ပြန်အချခိုင်းတယ်ဆို”

”ဟဲ ဟဲ၊ ကျုပ်၊ ကျုပ်၊ အဲ၊ မြို့စားကတော်ကြီး ကို ပြောမလို့ပဲဗျ။ အိပ်ရာက မနိုးသေးတာနဲ့။ ကျုပ်ဆီ တပ်ဗိုလ်တစ်ယောက်လာပြီး ဒဏ်ရာရတဲ့လူနာတွေ လိုက် ပါရစေလို့ လာတောင်းပန်တယ်ဗျ။ ကျုပ်လဲ သနားတာနဲ့ ခွင့်ပြုလိုက်သဗျ။ ဟဲ ဟဲ။ ကျုပ်တို့ ထားပစ်ရမယ့် ပစ္စည်း တွေက ပြန်ဝယ်ရင် ရပါသဗျာ။ သူတို့ခမျာ ဒဏ်ရာကြီး တွေနဲ့ သောင်ပြင်လွှတ်တဲ့ခွေးလို နေရစ်ခဲ့ရမယ်ဆိုတော့၊ အဟမ်း၊ ကျုပ်တို့ပဲ အိမ်ကို တည်းခွင့်ပြုခဲ့တယ် မဟုတ် လား။ အဲဒီထဲမှာ တပ်ဗိုလ်လေး

တွေပါလာတော့ အဟမ်း၊ ကျုပ်လဲ မြို့စားကတော်ကြီး သဘောတူမယ် ထင်တာနဲ့ အဟမ်း”

မြို့စားကြီး ရှော့စတော့ဗ်သည် မြို့စားကတော်ကြီး နှင့် ငွေရေးကြေးရေး စီးပွားရေးကိစ္စများကို ပြောလျှင် အမြဲတမ်း မရဲတရဲပြောလေ့ရှိသည့်အတိုင်း ယခုလည်း ခပ်ရွံ့ရွံ့ဖြင့် မျက်နှာချိုသွေးရင်း ပြောလျက် ရှိ၏။ ဤသို့ မျက်နှာချိုသွေး၍ မရဲတရဲပြောလာပြီဆိုလျှင် မြို့စားကြီး ရှော့စတော့ဗ်သည် မိမိ မနှစ်သက်သော အလုပ်တစ်ခုကို လုပ်လာပြီဟု မြို့စားကတော်ကြီးကလည်း သိပြီး ဖြစ်၏။ ဤသို့ မရဲတရဲပြောလာတိုင်းလည်း မြို့စားကတော်ကြီး သည် ကန့်ကွက်ဆူပူလေ့ရှိသည်။ ကြင်ရာတော် မြို့စား ကတော်ကြီးသည် မြို့စားကြီး ရှော့စတော့ဗ်က ဤမျက်နှာ ထား၊ ဤလေသံမျိုးဖြင့်ပြောလျှင် ကန့်ကွက်ဆူပူခြင်းပြု ရန် မိမိတာဝန်ဟူ၍လည်း နားလည်လျက် ရှိ၏။

သို့ရာတွင် ဤတစ်ကြိမ်၌မူ ကန့်ကွက်ဆူပူခြင်း မပြုတော့ဘဲ သနားစဖွယ်လေသံပျော့ပျော့ကလေးကို တမင် ၊ လုပ်၍

”အင်း၊ မြို့စားကြီးမှာလဲ ခက်တော့တာပဲနော်။ မြို့စားကြီး ဒီလိုလုပ်ပုံနဲ့ဆိုရင်တော့ ဒိပြင်ပစ္စည်း မပြောနဲ့ ၊ အိုးတစ်လုံး ဖျာတစ်ချပ်တောင်မှ ပါတော့မှာ မဟုတ်ဘူး။ မြို့စားကြီးမို့လို့ ကလေးတွေရဲ့ မျက်နှာကို မထောက်ဘဲ သူတို့ ပစ္စည်းကလေးတွေကို လွှင့်ပစ်ရက်ခဲ့တယ်နော်။ ကျွန်မတို့အိမ်မှာ အဖိုးထိုက် အဖိုးတန်ပစ္စည်းတွေရှိတယ် လို့ မြို့စားကြီးပါးစပ်ကတော့ ပြောတာပဲ။ ဒါပေမဲ့ ကျွန်မဖြင့် နားရှိလို့သာ ကြားရတယ်။ ဘာတစ်ခုမှ အဖိုးတန်ပစ္စည်း မမြင်တော့ဘူး။ ရှင့်သဘောပဲလေ။ ရှင် စိတ်ချမ်းသာမယ်ထင်ရင် လုပ်ပေါ့။ ကျွန်မတော့ ဘာမှ မပြောလိုတော့ပါဘူး။ တကယ်တော့ ဒဏ်ရာရတဲ့စစ်သား တွေကို စောင့်ရှောက်ဖို့ဆိုတာ ကျွန်မတို့အလုပ်လဲ မဟုတ် ပါဘူး။ အစိုးရက စီစဉ်လိမ့်မပေါ့။

မျက်နှာချင်းဆိုင်က လိုပူခင်တို့များ အားကျစရာကောင်းလိုက်တာ။ အိမ်မှာ ဆန်ကောတစ်ချပ် တောင်းစုတ်တစ်လုံး မကျန်စေရဘူး။ ပစ္စည်းတွေကို လွှန်ခဲ့တဲ့ နှစ်ရက်လောက်ကတည်းက ရွှေ့ပြီးကုန်ပြီ။ ကျွန်မတို့မှာသာ ပစ္စည်းတွေ အကုန်မ သယ် နိုင်ဘဲ လွှင့်ပစ်ခဲ့ရတာ။ သယ်ချိန်ရသလောက်ကလေး သယ်ပြန်တော့လဲ မြို့စားကြီးက တစ်မျိုးစီစဉ်ပြန်တော့ အေးလေ ကျွန်မကို မသနားချင်နေပါ။ ကလေးတွေကို တော့ သနားပါဦး”

မြို့စားကြီး ရော့စတော့ဗ်သည် စိတ်ပျက်လက်ပျက် ဖြင့် လက်ကိုယမ်းကာ အခန်းထဲမှ ပြန်ထွက်လာခဲ့သည်။

“ဖေဖျား၊ ဘာဖြစ်လို့ ပစ္စည်းတွေကို ပြန်ချတာ လဲ ဟင်” အခန်းထဲသို့ နောက်က လိုက်လာသော နာ တာရှာက မေး၏။

“ဘာဖြစ်ဖြစ်၊ နင်နဲ့ မဆိုင်ပါဘူး။ နေရာတကာ ပါတယ်” မြို့စားကြီးရော့စ တော့ဗ်က နာတာရှာကို အော်လိုက်သည်။

“ဒါဖြင့် မေဖျားက ဘာဖြစ်လို့ ဖေဖျားကို ဆူနေ တာလဲ”

“နင်နဲ့ မဆိုင်ဘူး။ နင်နဲ့ မဆိုင်ဘူးလို့ ပြောနေ တယ်”

နာတာရှာသည် ကုလားမနိုင် ရခိုင်မဲနေသော ဖခင်မြို့စားကြီး ရော့စတော့ဗ် အနီးမှ ထွက်လာကာ ပြတင်း ပေါက်နားတွင် ရပ်၍ တွေးနေသည်။

“ဟော ဖေဖျားရေ၊ အစ်ကိုကြီး လာတယ်။ အစ်ကိုကြီး” နာတာရှာက အစ်မ ဗီရာ၏ကြင်ရာတော် ဘာ့ဂ်ကို မြင်သဖြင့် လှမ်းပြောလိုက်၏။

# အခန်း ၁၆

မြို့စားကြီး ရှော့စတော့ဗ်၏သမက်ဘာ့ဂ်မှာ ဗလာဒီမာ နှင့် အင်နာဆု တံဆိပ်တော်ကြီးများကို ရရှိကာ ဗိုလ်မှူး ကြီးတစ်ဦးဖြစ်နေပေပြီ။ ထိုမျှသာမက ဒုတိယတပ်မတော် ပထမတပ်မကြီးမှ လက်ထောက်တပ်မှူး၏ ဒုတိယဦးစီး ချုပ် ဟူသော အားကျစရာကောင်းသည့် ရာထူးကြီးတစ်ခု တွင် ဆက်လက်အမှုထမ်း လျက် ရှိလေသည်။

စက်တင်ဘာလ ၁-ရက်နေ့တွင် ဗိုလ်မှူးကြီး ဘာ့ဂ်သည် တပ်မှ ခွင့်ယူကာ မော်စကိုမြို့သို့ ရောက်လာ ခဲ့၏။

အမှန်အားဖြင့် ဘာ့ဂ်အဖို့ မော်စကိုတွင် ကိစ္စအထူး အထွေ မရှိချေ။ သို့ရာတွင် အချို့တပ်ဗိုလ်များက ခွင့် ယူကာ မော်စကိုရှိ ဆွေမျိုးများအား လာ ရောက်ကူညီကြ သည်ကို တွေ့မြင်သောအခါတွင် ဘာ့ဂ်သည်လည်း အခြေ အနေ ကို သွားရောက်ကြည့်ဦးမည်ဟု အကြောင်းပြကာ ရသည့်အခွင့်အရေးကို လက်လွတ်မခံဘဲ ခွင့်ယူ၍ ရောက် လာခဲ့ခြင်းဖြစ်သည်။

ဗိုလ်မှူးကြီးဘာ့ဂ်သည် ယောက္ခမမြို့စားကြီး ရှော့စ တော့ဗ်၏အိမ်သို့ ချောမွေ့သောမန်ကျည်းစေ့ရောင် မြင်း နှစ်ကောင်တပ် ပက်လက်ရထားကလေး တစ်စီးဖြင့် မင်း ညီမင်းသားတစ်ဦးသဖွယ် ခမ်းခမ်းနားနား ရောက်လာ၏။ ဗိုလ်မှူး ဘာ့ဂ်သည် ဝင်းလုံးပြည့်ဖြစ်နေသော လှည်းများ ကို သေချာစွာကြည့်ပြီးနောက် ဆင်ဝင်ဘက်သို့ လျှောက် လာရင်း ဖြူဖွေးသောလက်ကိုင်ပဝါတစ်ထည်ကို ထုတ်၍ အထုံးထုံးနေသည်။

အပြင်ခန်းမသို့ ရောက်လျှင် ဘာ့ဂ်သည် ဧည့်ခန်း ဆောင်ထဲသို့ ခပ် သုတ်သုတ်ဝင်လာခဲ့ပြီး မြို့စားကြီးရှော့စ တော့ဗ်ကို ပွေ့ဖက်နှုတ်ဆက်၍ ဆွန်ယာ နှင့် နာတာရှာတို့ ၏လက်ခုံကိုလည်း နမ်းရှုပ်နှုတ်ဆက်ကာ “မေဖျား” ၏

ကျန်းမာရေးအခြေအနေကို မေးမြန်းနေသည်။ (ဘဲ့ဂ်က ၎င်း၏ယောက္ခမများကို ဇနီးသည် ဗီရာခေါ်သည့်အတိုင်း ခေါ်သည်။)

”အေးလကွယ်။ မင်းမေဖျား `ကျန်းမာရေးကို အသာထားပြီး သတင်းကလေး ဘာကလေး ပြောပြစမ်း ပါဦး။ တပ်တော်ကြီးကော ဆုတ်ခွာသွားပတဲ့လား။ တိုက်ပွဲ ကော ဖြစ်ဦးမှာလား” မြို့စားကြီးရော့စတော့ဗ်က မေးသည်။

“အဖနိုင်ငံကြီးရဲ့ ကံကြမ္မာကိုတော့ ဘုရားသခင် ကိုယ်တော်မြတ်ကြီးသာလျှင် ဆုံးဖြတ်တော်မူနိုင်တော့မှာပဲ ဖေဖျား။ တပ်တော်ကြီးကတော့ ခေါဘဏီတပ်တွေ ချီလာ စေတော့ မမှုပါဘူးဖေဖျား။ အရိုးကြေကြေ အရေခန်းခန်း တိုက်မယ်ဆိုတဲ့အာဇာနည်စစ်စိတ် စစ်သွေးတွေ ပွက်ပွက် ဆူနေတာပါပဲ။ တပ်တော်ရဲ့ဦးစီးဦးကိုင်များကလဲ စစ်ဦးစီး ဌာနချုပ် အရေးပေါ်အစည်းအဝေး ကျင်းပနေပါတယ်။ ဘယ်လိုဆုံးဖြတ်ချက်မျိုးတွေ ထွက်လာမယ်ဆိုတာတော့ မပြောတတ်သေးပါဘူး ဖေဖျား။ သို့သော်လဲ ကျွန်တော် ယေဘုယျပြောနိုင်တာတစ်ချက်တော့ ရှိပါ တယ်။ အဲဒါက တော့ အခြားမဟုတ်ပါဘူး။ ၂၆-ရက်နေ့က ဖြစ်တဲ့ ဘိုရိုဒီနိုတိုက်ပွဲမှာ ရန်သူ့ဘက်က လက်ဖျားခါယူရလောက် အောင် ပြသခဲ့တဲ့ ရုရှားတပ်တော်ကြီးရဲ့ အနိုင်မခံ အရှုံး မပေးတဲ့ အာဇာနည်စိတ်ဓာတ်နဲ့ ကျွန်တော်တို့ သွေးထဲ မှာ စိမ့်ဝင်နေတဲ့ အဘိုးများရဲ့ သူရသတ္တိကိုတော့ ဒီကောင် တွေကောင်းကောင်းကြီးသိသွားရမယ်ဆိုတဲ့ အချက်ပါပဲ ဖေဖျား။ ရုရှားတပ်တော်ရဲ့အာဇာနည်စိတ်ဓာတ်နဲ့ သူရ သတ္တိထက်မြက်ကြီးမားပုံကဖြင့် စကားလုံးရှာလို့ မရနိုင် အောင်ဘဲ ဆိုပါတော့ ဖေဖျား။ ပြီးတော့လဲ(ဗိုလ်ချုပ် တစ်ဦးသည် စကားအားရပါးရ ပြောပြီးတိုင်း ရင်ဘတ်ကို ထုတတ်သည်ဟု ဘဲ့ဂ်ကြားဖူးသည်။ ထို့ကြောင့် ထိုစစ် ဗိုလ်ချုပ်ကြီးကို အားကျကာ ရင်ဘတ်ကို ထုလိုက်သည်။ သို့ရာတွင် ဂျာမန်လူမျိုးဘဲ့ဂ်သည် “ကျွန်တော်တို့ ရုရှား တပ်တော်ကြီး” ဟူသော

စကားလုံးနှင့် စည်းဝါးကိုက်အောင် ရင်ဘတ်ကိုမထုမိဘဲ နောက်ကျောမှထုမိသဖြင့် ကိုယ့်ကိုယ် ကို အားမရ ဖြစ်နေသည်။) တပ်သားတွေ တပ်ဗိုလ်တွေကို ရုရှားလူမျိုး ရဲ့ သူရသတ္တိကို ပြဖို့ ကျွန်တော်တို့ တပ်မှူးတွေ ကိုယ်၌က တိုက်တွန်းလှုံ့ဆော်ဖို့ တောင်မလိုဘဲ သူတို့အသိ နဲ့ သူတို့ စွမ်းစွမ်းတမံလုပ်ပြချင်ကြလွန်းလို့ အနိုင်နိုင် တားထားရပါတယ် ဖေဖျား။ ဗိုလ်ချုပ်ကြီး ဘာကလေဆို ရင် အသက်ကို ပဓာနမ ထားဘဲ ဘယ်သွားသွား တပ်ဦးက ကိုယ်တိုင် ချီတက်တာပဲ။ ကျွန်တော်တို့ တပ်ဖွဲ့ တွေလဲ တောင်ကုန်းကလေးတစ်ခုနားမှာ စခန်းချနေကြပါတယ် ဖေဖျား"

ဗိုလ်မှူးကြီးဘာ့ဂ်သည် တပ်ထွက်စဉ် တွေ့ခဲ့။ ကြားခဲ့၊ မြင်ခဲ့သမျှကို ဖောက်သည်ချနေသည်။ နာတာရှာ သည် ဘာ့ဂ်အား ရှုန်းရှုန်းစားစားကြီးကြည့် လျက် ရှိ၏။ နာတာရှာသည် မိမိ၏မျက်နှာပေါ်မှ အဖြေတစ်စုံတစ်ခုကို ရှာဖွေနေ သလောဟု တွေးမိကာ ဘာ့ဂ်သည် မလုံမလဲ ဖြစ်လျက် ရှိလေသည်။

"အို၊ ရုရှားစစ်သည်တော်များရဲ့ သူရသတ္တိပြောင် မြောက်ပုံကတော့ ပြောလို့ လဲ မကုန်၊ စာဖွဲ့လို့လဲ မကုန်၊ တွေးလို့လဲ ကုန်နိုင်မှာ မဟုတ်ပါဘူး ဖေဖျားရယ်" ဘာ့ဂ်က နာတာရှာ့ဘက်သို့ လှည့်ကြည့်လိုက်ပြီး နာတာရှာ ကျေနပ်လိုကျေနပ် ငြား ခပ်ပြုံးပြုံးဖြင့် ဆက်၍

"တကယ်တော့လဲ "ရုရှားနိုင်ငံကြီးသည် မော်စကို မြို့တွင် ရှိသည် မဟုတ်၊ အဖနိုင်ငံကြီးပိုင် သားကောင်းများ ၏ နှလုံးသည်းပွတ်တွင်းမှာသာ ရှိသည်" လို့ ဆို တယ် မဟုတ်လား ဖေဖျားရဲ့"

ထိုအခိုက် မြို့စားကတော်ကြီးသည် နွမ်းနယ်၍ အလိုမကျသော မျက်နှာထားဖြင့် ဧည့်ခန်းထဲသို့ ထွက်လာ လေသည်။ ဘာ့ဂ်သည် တစ်ဟုန်ထိုး ပြေးသွားကာ မြို့စား ကတော်ကြီး၏လက်ခုံကို ရှုပ်ခနဲမြည်အောင် နမ်း၍

ကျန်းမာရေးအခြေအနေကို အမောတကောမေးမြန်းစုံစမ်း ပြီးများစွာ ကရုဏာသက်ဟန်ဖြင့် ခေါင်းယမ်းရင်း အနီး တွင် ရပ်နေလေသည်။

"ခုအချိန်ကတော့ ရုရှားလူမျိုးတိုင်းအဖို့ စိတ် နှလုံးမချမ်းမြေ့စရာကာလကြီးလို့ပဲ ဆိုရတော့မှာပဲ မေဖျား ရေ၊ မေဖျားလဲ ဒီလောက် အစိုးရိမ်ကြီး မနေပါနဲ့လေ၊ ပြောင်းမယ်ဆိုရင် အချိန်တွေအများကြီး ရပါသေးတယ်"

"ဒီအစေခံတွေကလဲ ဘာတွေလုပ်နေကြမှန်း မသိပါဘူး" မြို့စားကတော်ကြီးက ကြင်ရာတော်ဘက်သို့ လှည့်၍ ပြောလိုက်၏။ "ခုထိ ဘာမှ ပြင်လို့ ဆင်လို့ မပြီးသေးဘူးလို့ လာပြောနေကြပြန်ပြီ။ ကြီးကြပ်စီမံမယ့် လူလဲ မရှိတော့ဘူးထင်ပါရဲ့ ။ ခုအချိန်မျိုးမှာ မီတင်ကာ သာရှိရင် အားလုံး မျက်နှာလွှဲထားလို့ ရတယ်။ ခုတော့ ပြင်လိုက်ဆင်လိုက်ကြတာလဲ ကြာလှပြီ။ ဘာမှလဲ မပြီး ကြသေးဘူး"

မြို့စားကြီး ရော့စတော့ဗ်က တစ်စုံတစ်ရာ ပြော လိုက်မည်ပြုပြီးမှ ပါးစပ်ပိတ်လိုက်သည်။ မြို့စားကြီး ရော့စတော့ဗ်သည် ထိုင်ဖုံမှထကာ တံခါးဝသို့ ထွက်လာ၏။

ထိုအခိုက် ဘာ့ဂ်သည် နှာချေရန် ပဝါဖြူကို ထုတ်လိုက်သည်။ ပဝါမှ အထုံးကို မြင်သည်၌ ခဏမျှ တွေနေပြီး လွန်စွာဝမ်းနည်းသည့်ဟန်ဖြင့် ခေါင်းကို ယမ်းလျက်

"ကြော်၊ ကျွန်တော့်ကို တစ်ခု ပြောခွင့်ပြုပါဦး ဖေဖျား"

"ဟေ" မြို့စားကြီး ရော့စတော့ဗ်က ရပ်နေသည်။

"ခု ဒီလာတော့ ကျွန်တော် မင်းသားကြီး ယူဆူ ပေါ့စုံအိမ်တော်ရှေ့က ဖြတ်လာခဲ့တယ်ခင်ဗျ။ စံအိမ်တော် ရှေ့ရောက်တော့ ကျွန်တော့်အသိ ဝင်းမှူးထွက်လာပြီး မင်းသားကြီးရဲ့ ပစ္စည်းတွေကို မသယ်နိုင်တဲ့အတွက် ထုခွဲ ရောင်းချမယ်။ ဝယ်

မလားလို့ မေးတာနဲ့ ကျွန်တော်လဲ စံအိမ်တော်ထဲကို ဝင်လိုက်သွားတယ် ဖေဖျား အင်မတန် လှပတဲ့ မှန်တင်ခုံနဲ့ ဗီရိုကြီးတစ်လုံး တွေ့ခဲ့တယ် ဖေဖျား။ “ ဖေဖျားရဲ့ သမီးက အဲဒီဗီရိုမျိုးနဲ့ မှန်တင်ခုံမျိုးကို လိုချင် တာနဲ့တော့ အတော်ပဲ ဖေဖျား။ ဒီလို မှန်တင်ခုံမျိုးနဲ့ ဗီရို မျိုးရအောင် မရှာနိုင်ကောင်းလားလို့ ကျွန်တော့်ကို တဆူဆူ ပဲ ဖေဖျား။ (ဗီရိုအကြောင်းကိုပြောသည့်အခါတွင် ဘာ့ဂ် သည် အိမ်တွင်းရေးကိစ္စများ ကို များစွာ အရေးတယူပြုသူ ဖြစ်ကြောင်း ဂုဏ်ယူသည့်လေသံမျိုးဖြင့် ပြောသည်။) ဗီရိုကတော့ တော်တော့်ကို လှတာပဲ ဖေဖျားရဲ့။ အံတွေ ကလဲ တော်တော်ကောင်းတယ်။ ဖေဖျားသမီးလိုချင်နေတဲ့ ဗီရိုမျိုးပဲ။ ကျွန်တော် သူ့ဖို့ ဝယ်မယ် စိတ်ကူးထားတယ်။ ဖေဖျားရဲ့ ဝင်းထဲမှာ လှည်းတွေ တော်တော်များများ ရှိတယ် မဟုတ်လား။ ဗီရိုနဲ့ မှန်တင်ခုံတင်ဖို့ ကျွန်တော့် ကို လှည်းတစ်စီးလောက် မှုပါလား ဖေဖျား။ စရိတ်စကကို ကျွန်တော်ပဲ ပေးလိုက်ပါ့မယ်။ ပြီးတော့” , မြို့စားကြီးရော့စတော့ဗ်သည် မျက်မှောင်ကုတ်၍ ချွဲရှင်းလိုက်၏။

“မောင့် မေဖျားကို ပြောလေ။ သူ စီမံနေတာပဲ”

“သိပ်ခဲယဉ်းမယ်ဆိုရင်တော့ မယူပါဘူး ဖေဖျား။ နေပါစေတော့။ ကျွန်တော် လဲ ဗီရာက သိပ်လိုချင်နေလွန်း လို့ စိတ်ကူးထည့်မိတာပါ”

“ရှုပ်တယ်ကွယ်။ မောင်တို့ကိစ္စတွေ ငါမသိဘူး။ ငါ မသိဘူး။ ငါ့မှာ ခေါင်းရှုပ် လှပြီ”

မြို့စားကြီး ရော့စတော့ဗ်သည် အော်၍ အပြင်သို့ ထွက်သွားသည်။ မြို့စား ကတော်ကြီးမှာ ငို၍ ကျန်ရစ်ခဲ့ လေသည်။ -

”အင်း၊ သူ စိတ်ရှုပ်မယ်ဆိုရင်လဲ ရှုပ်စရာပေါ့ မေဖျားရယ်။ ကာလကြီးက မ ကောင်းဘဲကိုး” ဘာ့ဂ်က  ဆို၏။

နာတာရှာသည် ဖခင်မြို့စားကြီး ရော့စတောဖ်နှင့် အတူ အပြင်သို့ ထွက်လာခဲ့၏။ နာတာရှာသည် ဘာလုပ် ၍ ဘာကိုင်ရမည်မသိဘဲ ဖြစ်နေသည်။ ထို့ကြောင့် ဖခင် ကြီးအပါးမှ ခွာကာ အောက်ထပ်သို့ ပြေးဆင်းလာခဲ့ပြန် သည်။

ပီတာမှာ ဆင်ဝင်အောက်တွင် ရောက်နေကာ မော်စကိုမှ ထွက်ခွာမည့် အစေတော်များကို လက်နက် များဝေငှလျက် ရှိသည်။ ပစ္စည်းတင်ပြီးသားလှည်းများ မှာ ဝင်းထဲတင် အဆင်သင့်ရှိနေကြ၏။ လှည်းနှစ်စီးမှာမူ ဝန်စည်စလယ်များ မရှိတော့ချေ။ ဒဏ်ရာရ တပ်မိုလ်တစ် ယောက်သည် တပ်လုလင်တစ်ဦး၏ အကူအညီဖြင့် လှည်း လွတ်နှစ်စီးအနက် တစ်စီးပေါ်သို့ တက်နေသည်။

"ခုနက ဆူညံဆူညံနဲ့ ဘာဖြစ်ကြတာလဲ" ပီတာက မေး၏။ ပီတာက ဖခင်မြို့စားကြီး ရော့စ တော့ဖ်နှင့် မိခင် မြို့စားကတော်ကြီးတို့ ခပ်စောစောက တစ်ယောက်တစ်ခွန်းပြောနေကြသည့်ကိစ္စကို မေးခြင်း ဖြစ်ကြောင်း နာတာရှာ နားလည်၏။ သို့ရာတွင် ဘာမျှ ပြန်မပြောချေ။

"လက်စွဲတော်ကြီးကပြောတော့ ဖေဖျားဟာ လှည်း တွေအားလုံး လူနာစစ်သားတွေကို ပေးချင်နေတယ်လို့ ပြောတယ် မဟုတ်လား။ ကျွန်တော့်အထင်တော့"

နာတာရှာသည် ဒေါသထွက်လျက်ရှိသော မျက်နှာ ဖြင့် ပီတာဘက်သို့ လှည့်၍

"နာတာရှာအထင်ကတော့ လူတွေက နည်းနည်း ကလေးမှ ကိုယ်ချင်းစာတရား မရှိကြဘူး။ သနားညှာတာ စိတ် မရှိကြဘူး။ နည်းနည်းမှ လူစိတ်။ အို၊ မပြောချင် ပါဘူး။ နေစမ်းပါဦး ပီတာ၊ နာတာရှာတို့ဟာ ဒီလောက် ရိုင်းစိုင်းရအောင် ဂျာမန်တွေလား ဟင် ဂျာမန်တွေလား"

နာတာရှာသည် ဒေါသကို ပြေပျောက်စိမ့်သောငှာ သည်းထန်စွာ ရှိုက်လိုက်၏။ ၎င်း၏လည်ချောင်းသည် လှုပ်နေသည်။ ထို့နောက် နာတာရှာသည် အိမ်ပေါ်သို့ ပြေးတက်သွားလေသည်။

ဘာ့ဂ်မှာ မြို့စားကတော်ကြီးအနီးတွင် ထိုင်၍ သားချင်းတစ်ယောက်၏ လေးစားဂရုစိုက်ခြင်းမျိုးဖြင့် မြို့စားကတော်ကြီးကို ဖျောင်းဖျနှစ်သိမ့်လျက်ရှိ၏။ မြို့စား ကြီး ရော့စတော့ဗ်သည် ဆေးတံကို လက်တွင်ကိုင်ကာ အခန်းထဲ၌ ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်နေသည်။ နာတာရှာသည် စိတ်ဆိုးလျက်ရှိသောမျက်နှာဖြင့် မိခင် မြို့စားကတော်ကြီးထံ ကြီးမောကြီး ပေါက်လာကာ

”မေဖျား၊ မေဖျားတို့ လုပ်ပုံ ကောင်းသေးရဲ့လား ဟင်။ မေဖျားတို့ ဒီလောက်မှ ကိုယ်ချင်းစာနာစိတ် မရှိ တော့ဘူးလား” . ဘာ့ဂ်နှင့် မိခင်မြို့စားကတော်ကြီးသည် နာတာရှာ ၏စကားကို နားမလည်နိုင်ဘဲ အလန့်တကြားကြည့်လိုက် ကြ၏။ မြို့စားကြီး ရော့စတော့ဗ်မှာ ပြတင်းဝတွင် ရပ်၍ နားထောင်နေသည်။

“ဒီလိုတော့ မဖြစ်ဘူး မေဖျား။ မေဖျား သွားလဲ ကြည့်စမ်းပါဦး။ သူတို့ကို ဒီအတိုင်းထားခဲ့လို့ ဖြစ်မလား”

“ဟဲ့ နာတာရှာ၊ ဘာဖြစ်လာတာလဲ။ ဘယ်က “သူတို့လဲ၊ အေးအေးသက်သာ ပြောစမ်းပါ”

“ဘယ်က “သူတို့” ရမှာလဲ မေဖျား။ ဒဏ်ရာရတဲ့ လူနာတွေပေါ့။ ဒီအတိုင်း ပစ်ထားခဲ့လို့ ဖြစ်မှာလား။ ဒီလို မစာမနာတော့ မလုပ်ကြနဲ့။ မေဖျားတို့ မတရားဘူး။ နာတာရှာတို့ ယူသွားမယ့်ပစ္စည်းတွေက ဘယ်လောက်များ တန်ဖိုးရှိလို့လဲ”

မြို့စားကြီး ရော့စတော့ဗ်သည် ပြတင်းဝတွင်ရပ်၍ နားထောင်မြဲ နားထောင်နေသည်။ နောက်သို့ကား လှည့် မကြည့်ချေ။ မြို့စားကြီး ရော့စတော့ဗ်သည်

ရုတ်တရက် ချေဆတ်လိုက်ပြီး မျက်နှာကို ပြတင်းနားတိုးကပ်ထား လိုက်သည်။

မြို့စားကတော်ကြီးသည် နာတာရှာကို လှမ်းကြည့် လိုက်၏။ နာတာရှာ၏မျက်နှာကား မိခင်မြို့စားကတော် ကြီးအတွက် အရှက်ရလျက်ရှိပုံ ရ၏။ ဒေါသလည်း ထွက် လျက် ရှိပုံ ရ၏။ ထိုအခါကျမှ ကြင်ရာတော်မြို့စားကြီး ရှော့စတော့ဗ်သည် မိမိအား အဘယ့်ကြောင့် မျက်နှာမပြ ဘဲနေသည်ကို ရိပ်မိတော့သည်။ မြို့စားကတော်ကြီးသည် တစ်ချက်မျှ လှမ်းကြည့်လိုက်ပြီး

"သဘော၊ သဘော၊ ညည်းတို့သဘော။ ငါက မလိုက်ရဘူးလို့ ဘယ်သူ့ကို ပြောလို့လဲ" ဟု မကျေမချမ်း ဟန်ဖြင့် ပြောလိုက်သည်။

"မေဖျား သမီးကို စိတ်မဆိုးပါနဲ့နော်"

မြို့စားကတော်ကြီးသည် နာတာရှာကို တွန်းဖယ် ကာ မြို့စားကြီး ရှော့စတော့ဗ်အနီးသို့ ရောက်လာပြီး

"နာတာရှာတို့ ဖေဖျားကလဲ လူနာတွေကို တင် ခေါ်မယ်ဆိုရင် စောစောက ရှင်းရှင်းလင်း ပြောပါလား။ နို့ သိမှ မသိဘဲ။ ခုတော့" မြို့စားကတော်ကြီးက ခပ်ရှက်ရှက် ဖြင့် မျက်လွှာကို ချလိုက်သည်။

"အိမ်း၊ ကာလကြီးက ကြက်ဥက ကြက်မကြီးကို အစာကောက်သင်ပေးနေတဲ့ ကာလကြီးဗျ။ ကြက်ဥက ကြက်မကြီးကို အစာကောက်သင်နေတဲ့ ကာလကြီး"

မြို့စားကြီး ရှော့စတော့ဗ်သည် ဝမ်းသာအားရဖြင့် ပါးစပ်က တတွတ်တွတ် ရွတ်ပြီး ကြင်ရာတော် မြို့စား ကတော်ကြီးကို ပွေ့ဖက်နေသည်။ မြို့စားကတော်ကြီးက သူ့အမှားသူရှက်ကာ မျက်နှာကို မြို့စားကြီး ရှော့စတော့ဗ် ၏ရင်ခွင်တွင် ဝှက်ထားလိုက်သည်။

“ဖေဖျားနဲ့ မေဖျား နာတာရှာကြည့်ပြီး စီစဉ်လိုက် မယ်နော်။ ဟုတ်လား။ သူတို့ကို တင်ပေမယ့် နာတာရှာ တို့လိုတဲ့ပစ္စည်းတွေကိုလဲ တင်နိုင်ပါသေးတယ် မေဖျားရဲ့”

မြို့စားကြီး ရော့စတော့ဗ်က ခေါင်းညိတ်ပြလိုက် သည်။ နာတာရှာသည် ပြေးတမ်း လိုက်တမ်း ကစားစဉ် ပြေးသောခြေလှမ်းမျိုးဖြင့် ပွဲတက်ဆောင်နှင့် ပြင်ပဆောင် ကို တစ်ဟုန်ထိုး ဖြတ်သန်းကာ အောက်ထပ်သို့ ပြေးဆင်း လာခဲ့သည်။

အစေတော်များသည် နာတာရှာ၏အနီးတွင် စုရုံး လျက် ရှိကြ၏။ သို့ရာတွင် ရှိရှိသမျှ လှည်းများမှ သေတ္တာ များကို ပစ္စည်းသိုလှောင်ခန်းသို့ ပြန်အသယ်ခိုင်းပြီး လှည်းတွေအားလုံး ဒဏ်ရာရစစ်သားများအား ပေးရမည် ဆိုသော ထူးဆန်းသည့် အမိန့်ကိုမူ မယုံကြည်နိုင်ကြသေး ချေ။ နောက်ဆုံး မြို့စားကတော်ကြီးကိုယ်စား သဘောတူ ကြောင်း မြို့စားကြီး ရော့စတော့ဗ်က ထွက်ပြောတော့မှ ယုံကြည်သွားကြသည်။ ထိုအမိန့်သစ်ကို နားလည်သွား သည်နှင့် အစေတော်များသည် သေတ္တာများကို စိတ်အား ထက်သန်စွာပြန်ချနေကြသည်။ ဤသို့ ကမ္ဘာမီးလောင်လျက်ရှိချိန်တွင် ကိုယ့်ပစ္စည်း ကိုယ် သယ်သွားရုံသာ ရှိ တော့သည်။ ဒဏ်ရာရ စစ်သားများကိုမူကား ပေယျာလကန် ပြုရုံမှတစ်ပါး အခြားဘာမျှ မတတ်နိုင်ဟု လွန်ခဲ့သည့် နာရီတစ်မတ်ခန့်က အစေတော်များ၏စိတ်တွင် ဖြစ်ပေါ် ခဲ့သော်လည်း ယခုအချိန်၌မူ ပစ္စည်းများကို ချန်ကာ ဒဏ် ရာရလူနာများကို သယ်သွားရုံသာ ရှိသည်။ ထိုမှအပ အခြားနည်းမရှိဟူသော အယူအဆသည် အစေတော်များ၏ စိတ်၌ ဖြစ်ပေါ်လာကြပြန်လေသည်။

မြို့စားကြီး ရော့စတော့ဗ်၏ အိမ်သားများသည် စောစောကလုပ်ရမည့် အလုပ်ကို ယခုမှ လုပ်ရခြင်းအတွက် ၎င်းအပေါ်တွင် တင်ရှိနေသော တာဝန်ကြွေးကို ပြန်ဆပ် လိုသကဲ့သို့ ဒဏ်ရာရ စစ်သားလူနာများကို လှည်းများပေါ် သို့

အားတက်သရောတင်ပေးလျက် ရှိကြ၏။ ဒဏ်ရာရ လူနာများသည် လက်ဝဲ အဆောင်ရှိ အခန်းများထဲမှ တရွတ် တိုက်ထွက်လာကြကာ ဖြူရော်လျက် ရှိသော်လည်း ရွှင်ပျ သောမျက်နှာများဖြင့် လှည်းများအနီးတွင် ရပ်နေကြသည်။ - မြို့စားကြီး ရော့စတော့ဗ်က မိမိ၏လှည်းများဖြင့် ဤတပ် သားများအား နိဗ္ဗာန်ကူးတို့ ပို့နေသည်ဟူသော သတင်း သည် အနီးအနားသို့ ပျံ့နှံ့သွားလေရာ အခြားအိမ်များတွင် တည်းခိုနေကြသည့် စစ်သားလူနာများလည်း အလျှိုအလျှိုး ထွက်လာကြလေသည်။ ဒဏ်ရာရလူနာ အများကပင် ပစ္စည်း များကို ပြန်ချဖို့မလိုကြောင်း၊ ထိုပစ္စည်းများပေါ်မှပင် လိုက်ပါကြမည် ဖြစ်ကြောင်း ပြောကြသေးသော်လည်း ပစ္စည်းအချို့မှာ ချပြီးရကား ဆက်လက်၍သာ ချနေကြလေ သည်။ ယခုအချိန်၌ကား ပစ္စည်းတစ်ခုမျှ မပါလျှင်လည်း မထူးတော့ပြီ။ မနေ့ညက ကြိုးစားပမ်းစားထုပ်ပိုးသိမ်းဆည်း ခဲ့ရသော ကြွေထည်ပန်းကန်များ၊ ကြေးထည်များ၊ ပန်းချီ ကားများ၊ မှန်များစသည်တို့ကား ဝင်းထဲတွင်ပြန့်ကျဲလျက် ရှိလေသည်။ သို့တိုင် အောင် မြို့စားကြီး ရော့စတော့ဗ်၏ အိမ်သားများသည် မကျေနပ်ကြသေးဘဲ စစ်သားလူနာများ နောက်ထပ်တင် နိုင်ရေးအတွက် ပစ္စည်းများကို ရွေး၍ ချနေကြပြန်သည်။

"လူပြည့်တော့မယ် ခင်ဗျ။ နောက်ထပ် လေး ယောက်ပဲ ရတော့မယ်။ အဲဒါတောင် ကျွန်တော့်လှည်း ပေါ်မှာ တင်ရမှာ" စာရင်းဒိုင်ချုပ်က ပြောလိုက်သည်။

"ဟဲ၊ ငါ့အဝတ်ဗီရိုတင်တဲ့ လှည်း ရှိသေးတယ် မဟုတ်လား။ ဒွန်ယာရှာက ငါ့ကရထားနဲ့ လိုက်ခဲ့" မြို့စားကတော်ကြီးက ဆိုသည်။

မြို့စားကတော်ကြီး၏ အမိန့်အရ အဝတ်ဗီရိုကြီးကို လှည်းပေါ်မှ ပြန်ချပြီးနောက် နှစ်အိမ်ကြားမှ စစ်သားလူနာ များကို တင်ရန် လွှတ်လိုက်သည်။ အစေတော်များအပါ အဝင် မြို့စားကြီးရော့စတော့ဗ်၏ အိမ်သားများကား ၎င်း တို့

ကုသိုလ်ကောင်းမှုကို ကြည့်၍ ကြည်နူးရွှင်လန်း လျက် ရှိကြ၏။ နာတာရှာကား ဆိုဖွယ်မရှိတော့ချေ။ ကာလအတန်ကြာမျှ မခံစားခဲ့သော ပီတိဟုန်ကို တသိမ့်သိမ့် ခံစားနေရပေသည်။

“ဒီဟာကြီးကို ဘယ်လှည်းမှာ တင်ရမလဲ သခင်မ လေး။ လှည်းတစ်စီး သတ်သတ်မှ ရလိမ့်မယ် ထင်တယ်" အစေတော်များက ကရထားတစ်စီး၏ နောက်မြီးတွင် သေတ္တာကြီးတစ်လုံးကို ကတ်ကတ်သတ်သတ် တင်လျက် ရှိရာမှ နာတာရှာကို မေးလိုက်သည်။

“ဘာသေတ္တာလဲ”

”သခင်ကြီးဘုရားရဲ့ စာအုပ်တွေ သခင်မလေး”

“အို၊ ထားပစ်ခဲ့စမ်းပါ။ အရေးထဲ ဒီစာအုပ်တွေ ဘာလုပ်ဖို့လဲ”

ကရထားထဲတွင် လူတွေပြည့်ကျပ်နေပြီ ဖြစ်သဖြင့် ပီတာမှာ ထိုင်စရာမရှိဘဲ ဖြစ်နေသည်။

“ပီတာ အမိုးပေါ်က ထိုင်လိုက်ခဲ့၊ အမိုးပေါ်က” နာတာရှာက လှမ်းပြောလိုက်သည်။

ဆွန်ယာမှာလည်း တစ်ချိန်လုံး အလုပ်များလျက် ရှိလေသည်။ သို့ရာတွင် နာတာရှာနှင့်ကား အလုပ်များပုံ ချင်း မတူကြချေ။ ဆွန်ယာသည် ချန်ထားခဲ့ရမည့် ပစ္စည်း များကို စိစိစစ်စစ်ရွေးချယ်လျက် မြို့စားကတော်ကြီး၏ ဆန္ဒအရ ယူသင့်သည့်ပစ္စည်းများကို စနစ်တကျစာရင်း လုပ် ရွေးထုတ်ကာ ပစ္စည်းများပါနိုင်သလောက် ပါအောင် ဝါယမစိုက်လျက် ရှိပေသတည်း။

# အခန်း ၁၇

မွန်းယိမ်းနှစ်ချက်မတီးဗီ၌ မြို့စားကြီး ရှော့စတော့ဗ်၏ ဝန်ပြည့်တင်ထားသော ကရထားကြီးလေးစင်းသည် မြင်း များ ကပြီးသား ဖြစ်လျက် ဆင်ဝင်အောက်တွင် အဆင်သင့် ရပ်လျက် ရှိကြ၏။ လူနာများကို တင်ထားသည့် လှည်းများသည် တစ်စီးပြီးတစ်စီး ဝင်းထဲမှ ထွက်ခွာလျက် ရှိကြသည်။

မင်းသားကလေးအင်ဒရေကို တင်ဆောင်လာသည့်  ခု ကျွန်မတို့နဲ့ အတူလိုက်မလို့"

ကရထားကြီးဆင်ဝင်နားမှ ဖြတ်သွားသောအခါတွင် ဆွန် ယာသည် လှည်းတွေကြားထဲမှ ခုံညားနေသော ကရထား ကြီးကို လှမ်းကြည့်လိုက်မိ၏။ ထိုအချိန်၌ ဆွန်ယာသည် အစေတော်မိန်းမတစ်ဦးနှင့်အတူ ဆင်ဝင်အောက်၌ ရပ် နေသော ကရထားကြီးထဲတွင် မြို့စားကတော်ကြီးအတွက် နေရာခင်းလျက် ရှိသည်။

"အလို ဘယ်က ကရထားကြီးပါလိမ့်" ဆွန်ယာ က ကရထား၏အပြင်ဘက်သို့ ခေါင်းပြူ၍ ကြည့်ရင်း မေး၏။

"ဟာ၊ သခင်မလေး မသိသေးဘူးလား။ ကိုယ် တော်ကလေးရဲ့ ကရထားလေ။ ဒဏ်ရာရလာလို့တဲ့။ မနေ့ညက ကျွန်မတို့အိမ်မှာ တစ်ညတည်းသွား တာပဲ။

"ဘယ်က ကိုယ်တော်လေးလဲ။ နာမည် ဘယ်သူ

"အို၊ သခင်မလေးနှယ်၊ ကျွန်မတို့သခင်လေး ဘုရား မတော်လိုက်ရတဲ့ ကိုယ်တော်လေးလေ။ မင်းသား ကလေး အင်ဒရေရယ်။ ကိုယ်တော်လေး ဒဏ်ရာ

က တော်တော်ပြင်းသတဲ့။ သေတောင်သေမလား မသိဘူးဆိုပဲ” အစေတော်မိန်းမ က သက်ပြင်းချလိုက်သည်။

ဆွန်ယာသည် ကရထားပေါ်မှခုန်ဆင်းကာ မြို့စား ကတော်ကြီးထံသို့ ပြေး လာခဲ့သည်။ ပင်ပန်းနွမ်းနယ်နေပြီ ဖြစ်သော မြို့စားကတော်ကြီးသည် ခရီးသွား ခြုံထည်ကို ခြုံကာ ဦးထုပ်သေးလေးဆောင်းလျက် ထုံးစံအတိုင်း ခရီးမထွက်မီ တံခါးပိတ်ဆုတောင်းရန်အတွက် ဧည့်ခန်း ထဲတွင်လမ်းလျှောက်နေရင်း အိမ်သား များကို စောင့်လျက် ရှိ၏။ နာတာရှာလည်း ရောက်မလာသေးချေ။

“မေဖျား၊ မေဖျား။ အင်ဒရေ အင်ဒရေလဲ ပါ တယ် မေဖျား။ ဒဏ်ရာ တော်တော်ကြီးသတဲ့ မေဖျား။ ခု ဆွန်ယာတို့နဲ့ အတူလိုက်မလို့တဲ့ မေဖျား”

ဆွန်ယာက အမောတကော ပြော၏။ မြို့စား ကတော်ကြီးသည် အလန့်တကြားဖြင့် မျက်လုံးပြူးကြည့် လိုက်ရင်း ဆွန်ယာ၏လက်မောင်းကို ဆုပ်၍ အနီးပတ်ဝန်း ကျင်ကို အကဲခတ်လိုက်သည်။

“နာတာရှာကော” မြို့စားကတော်ကြီးက လေသံကလေးဖြင့် မေးသည်။

ထိုသတင်းကို ကြားလိုက်ရသည့်ခဏတွင် ၎င်းတို့ နှစ်ဦးစလုံး၏စိတ်ထဲတွင် စိုးရိမ်ချက်ကြီးတစ်ခု ပေါ်လာ ၏။ ၎င်းတို့သည် နာတာရှာ၏အကြောင်းကို ကောင်း ကောင်းကြီးသိကြ၏။ မင်းသားကလေးအင်ဒရေအတွက် စိုးရိမ် ကြောင့်ကြစိတ်များသည် ပျောက်လွင့်သွားကာ ထို သတင်းကို နာတာရှာသော် မည်သို့ ဖြစ်မည်နည်းဟူ သော စိုးရိမ်ထိတ်လန့်မှုသည် ဖုံးလွှမ်းလျက်ရှိ၏။

“နာတာရှာတော့ မသိသေးဘူး မေဖျာ။ ဒါပေမဲ့ လမ်းကျရင်တော့ သိလိမ့် မယ်ထင်တယ်”

“ဒဏ်ရာက တော်တော်ကြီးသတဲ့လား။ သေနိုင် သတဲ့လား”

ဆွန်ယာက ခေါင်းညိတ်ပြသည်။

မြို့စားကတော်ကြီးသည် ဆွန်ယာကို ဖက်၍ ငိုလေသည်။

"အင်း၊ ဘုရားသခင်ရဲ့ အလိုတော်ဟာ တစ်မျိုး မဟုတ် တစ်မျိုးတော့ ဖြစ်လာတာပဲနော်" မြို့စားကတော် ကြီးက တွေးလိုက်သည်။[4]

"ဟင် မေဖျား၊ အားလုံးအဆင်သင့် ဖြစ်ပြီလေ။ ဘာဖြစ်နေတာလဲ" နာတာ ရှာသည် ရွှင်ပျသော မျက်နှာဖြင့် အခန်းထဲသို့ ပြေးဝင်လာသည်။

"အိုး ဘာမှမဖြစ်ပါဘူး သမီးထွေးရယ်။ အားလုံး အဆင်သင့်ဖြစ်ရင်လဲ သွား ကြတာပေါ့"

မြို့စားကတော်ကြီးက ဖြေလိုက်သည်။ မြို့စား ကတော်ကြီးသည် ဣန္ဒြေပျက်နေခြင်းကို ဖုံးကွယ်ရန် အတွက် မျက်နှာကို အင်္ကျီလက်ဖြင့် ဖုံးထား လိုက်၏။ ဆွန်ယာက နာတာရှာကိုပွေ့၍ နမ်းသည်။

နာတာရှာမှာ တစ်မူထူးနေသော ၎င်းတို့နှစ်ဦး ကို ကြည့်၍ အံ့အားသင့် နေသည်။

"ဘာဖြစ်လို့လဲ ဆွန်ယာ ဟင်။ ဘာဖြစ်နေကြ တာလဲ"

"ဟင့်အင်း၊ ဘာမှ မဖြစ်ပါဘူး" "နာတာရှာနဲ့ ပတ်သက်လို့ ပြောစရာရှိရင် ပြောပါ ဆွန်ယာရယ်။ ဖုံးကွယ်မထားပါနဲ့။ ဘာလဲ" အကင်းပါး သော နာတာရှာက ထပ်၍ မေး၏။

ဆွန်ယာသည် ပြန်မဖြေဘဲ သက်ပြင်းကို ချ၏။ ထိုအခိုက် မြို့စားကြီးရော့စ တော့ဗ်၊ အိမ်ထောင်ထိန်း အဘွားကြီး မက်ဗရာ၊ လက်စွဲတော်ကျွန်ယုံကြီးဗာစီ

လစ် နှင့် ပီတာတို့ ညေ့ခန်းဆောင်ထဲသို့ ဝင်လာကြသဖြင့် တံခါးများကို ပိတ်ကာ ထိုင်၍ဆုတောင်းကြသည်။

ခဏကြာသော် မြို့စားကြီး ရော့စတော့ဗ်က ပထမ ဆုံး ထလိုက်ပြီး ဆင်းတုတော်ရှေ့တွင် လက်ယှက်၍ဆု တောင်းနေသည်။ အခြားသူများကလည်း မြို့စားကြီး ရော့စတော့ဗ်နည်းတူ ဆုတောင်းကြသည်။ ထို့နောက် မြို့စားကြီးရော့ စတော့ဗ်သည် မော်စကိုစံအိမ်တွင် အိမ် စောင့်ကျန်နေရစ်ခဲ့မည့် လက်စွဲတော် ကျွန်ယုံကြီးဗာစီလစ် နှင့် မက်ဗရာတို့ကို နှုတ်ဆက်၏။ လက်စွဲတော်ကြီးနှင့် မက် ဗရာတို့က သူ့ပခုံးနှင့် လက်ခုံများကို နမ်းရှုပ်နေစဉ် မြို့စားကြီး ရော့စတော့ဗ်သည် ၎င်းတို့နှစ်ဦး၏ ကျောကို သပ်ကာ တိုးတိုးတိုးတိုးနှင့် ရွတ်နေသည်။ မြို့စား ကတော် ကြီးသည် ဘုရားဆောင်ထဲသို့ ဝင်သွားလေသည်။ ဆွန်ယာ ဝင်လိုက်သွား သည့်အခါ၌ မြို့စားကတော်ကြီးသည် စံအိမ် တွင်ထားခဲ့သော ဆင်းတုတော် များ၊ ရုပ်ပုံတော်များရှေ့တွင် ဒူးထောက်၍ ရှိခိုးလျက် ရှိသည်။ (ဆင်းတုတော်များ အနက် ဘိုးဘွားမိဘများ လက်ထက်ကတည်းက ကိုးကွယ်ခဲ့သော ဆင်းတုတော် တစ်ဆူကိုမူ အတူပင့်လာခဲ့သည်။) ဆင်ဝင်အောက်နှင့် စံအိမ်ဝင်းထဲ၌ကား ပီတာ က ဓားလွယ်များ၊ ဓားမြှောင်များစသည်တို့ကို ထုတ်ပေးထား သည့်အစေအပါး များသည် ခါးပတ်ကြီးများ တင်းနေအောင် ပတ်၍ ဘောင်းဘီကို ဒူးထိရှည်သော ဖိနပ်ရှည်ကြီးများ ထဲသို့ သွင်းဝတ်ထားကြသည်။ ၎င်းတို့မှာ ကျန်ရစ်ခဲ့ မည့်သူများ ကို နှုတ်ဆက်လျက် ရှိကြ၏။

ခရီးထွက်ခါနီး၌ ပစ္စည်းမေ့ကျန်ခြင်း၊ အထား မှားခြင်းစသည်တို့ ဖြစ်တတ် သည့်အလျောက် အစေတော် နှစ်ယောက်သည် မြို့စားကတော်ကြီး အလိုရှိက အသင့် ဖြစ်စေရန် ကရထားအနီးတွင် ရပ်နေကြ၏။ မိန်းမ အစေတော်များမှာ ထိုင် ဖုံများနှင့် အထုပ်များကို ဆွဲကာ ကရထားဆီသို့ ပြေးလိုက်၊ မေ့ရစ်ခဲ့သောပစ္စည်း များကို ပြန်ယူလိုက်နှင့် မအားလပ်အောင် ဖြစ်နေကြသည်။

"ဒီကောင်မတွေဟာ အမြဲတမ်း သတိမေ့တတ် တယ်။ ဒီခရီးကြမ်းကြီးမှာ ဒီလိုထိုင်လိုက်လို့ ဖြစ်မလား တဲ့။ ငါ့ကို သတ်ကြမလို့လား ဟင်" မြို့စားကတော်ကြီးက ကြိမ်းလိုက်သည်။

ဒွန်ယာရှာသည် သွားစေ့ကာ မျက်နှာငယ်ကလေး ဖြင့် ကရထားထဲသို့ ပြန်ဝင်သွားပြီး မြို့စားကတော်ကြီး အတွက် နေရာထိုင်ခင်းများကို ပြင်နေရပြန်သည်။

"ဒီကောင်မတွေကို ခိုင်းရတာ ဘာမှ အပေါက် မတည့်ဘူး" မြို့စားကတော်ကြီးက ညည်း၍ ခေါင်းယမ်း နေသည်။ ၊ မြို့စားကတော်ကြီး စိတ်အချဆုံး လက်စွဲတော် ကြီးတစ်ဦးဖြစ်သည့် ရထားသမားကြီး အီဖင်သည် ရထား အမိုးထိုင်ခုံတွင် မလှုပ်မယှက်မတ်မတ်ကြီး ထိုင်လျက် ရှိ၏။ ဘေးပတ်ဝန်းကျင်ကိုလည်း မကြည့်၊ နောက်သို့ လည်း လှည့်ကြည့်ခြင်း မရှိချေ။ မြို့စားကြီးရှေ့စတော့ဗ် အိမ်၌ အီဖင်သည် ရထားမောင်းလာခဲ့သည်မှာ အနှစ်သုံး ဆယ်မျှ ရှိခဲ့လေပြီ။ ရထားပေါ်သို့ လူစုံရောက်သည့်တိုင် "ထွက်တော့" ဟူသော အမိန့်ကို ရဦးမည် မဟုတ်သေးကြောင်း နှစ်ပေါင်းသုံးဆယ် အတွေ့ အကြုံအရ အီဖင် သိပြီး ဖြစ်၏။ "ထွက်တော့" ဟူသောအမိန့်ကို ရပြီးသည့် နောက်၌လည်း မေ့ကျန်ရစ်သောပစ္စည်းများကို အယူခိုင်း တတ်သေးသဖြင့် အနည်းဆုံး တစ်ကြိမ် နှစ်ကြိမ်လောက် ထပ်၍ အရပ်ခိုင်းဦးမည်ကို သိပြီး ဖြစ်၏။ ဤသို့ အကြိမ် ကြိမ် ရပ်ခိုင်းပြီးသည့်နောက်၌လည်း မြို့စားကတော်ကြီး သည် ရထားပြတင်းမှ ခေါင်းပြူကာ ထပ်၍အရပ်ခိုင်းပြီး "အီဖင်ရေ ကုန်းဆင်းတွေရောက်ရင် ဖြည်းဖြည်းမောင်း နော်" ဟု သတိပေးဦးမည်ကို သိပြီး ဖြစ်၏။ ခရီးထွက်ခါ နီးတိုင်း သူ့သခင်များ ဤသို့ ကိစ္စပွေတတ်ကြောင်းကို သိပြီးဖြစ်သည့်အတွက် အီဖင်သည် သူ့မြင်းများလောက်ပင် လှုပ်ရှားခြင်းမရှိဘဲ အေးအေးဆေးဆေး ထိုင်နေခြင်း ဖြစ်၏။ သို့ရာတွင် ရထား၌ တပ်ထားသည့် အီဖင်၏ မြင်းများကား ခေါင်းလည်ခါခါ ခြေတံရှုရှုဖြင့်

လှုပ်နေကြ လေပြီ။ အထူးသဖြင့် နောက်ဆုံးမှတပ်ထားသော ဖောင်း ဝတ်ပြာကြီး မှာ မြေကြီးကို ခွာဖြင့်ရုပ်လျက် မြင်းဇက်ကို ဝါးကာ တလှုပ်လှုပ်ဖြစ်နေလေပြီ။ အိမ်ရှိလူကုန် ကရထား ပေါ်သို့ ရောက်၍ ကရထားခြေနင်းခုံကို ခေါက်ကာ ရထား တံခါးများ ပိတ်ပြီး သွားလေပြီ။ သို့ရာတွင် မထွက်နိုင်သေး ချေ။ ခရီးဆောင် သေတ္တာတစ်လုံး ကျန်နေသေးသဖြင့် သွားယူရပြန်သည်။ မြို့စားကတော်ကြီးက လည်း ထုံးစံ အတိုင်း ရထားပြတင်းမှ ခေါင်းပြူထွက်၍ ပြောနေကျ စကားကို ပြောပြန်၏။ အီဖင်သည် ဦးထုပ်ချွတ်၍ လက် ယှက်ဆုတောင်း၏။ ဤတွင် ကရ ထားရှေ့ဆုံးမြင်းတွင် စီးသည့် မြင်းလမ်းပြသူငယ်နှင့် အစေခံများကပါ အီဖင် နည်းတူ ဆုတောင်းကြ၏။ အီဖင်က ဦးထုပ်ကို ပြန်ဆောင်း ပြီး “ထွက်မယ်” ဟု ဆိုတော့မှ ရှေ့ဆုံးမြင်းကို စီးသည့် မြင်းလမ်းပြက သူ့မြင်းကို ကြိမ်သွင်းလိုက် သဖြင့် ရထား ကြီးသည် တကျွိကျွိမြည်ကာ လှုပ်ယမ်း၍ ထွက်လာလေ သည်။ ဝင်းဝမှ ထွက်၍ ချိုင့်ကျင်းထူထပ်သော လမ်းပေါ် ရောက်မှ သူငယ်တော်ကလည်း ရှေ့ရထားခုံပေါ်သို့ ခုန် တက်လိုက်လာသည်။ ဤသို့ဖြင့် မြို့စားကြီးရော့စတော့ဗ် ၏အိမ်သားများကို သယ်ဆောင်လာသည့် ကရထားကြီး များသည် ဝင်းထဲမှ တစ် စီးပြီးတစ်စီးထွက်လာကာ လမ်းမ ပေါ်တွင် ရှေ့နောက်မောင်းနှင်လာကြ၏။ စံအိမ် နှင့် မျက်နှာ ချင်းဆိုင် သုဓမ္မာဇရပ်ရှေ့သို့ ရောက်လျှင် ကရထားတွင် လိုက်ပါလာ သူများသည် လက်ယှက်ဆုတောင်းကြသည်။ မော်စကိုမြို့တွင် ကျန်ရစ်ခဲ့မည့် သူများသည် လမ်းဘေး တစ်ဖက်တစ်ချက်မှလိုက်၍ နှုတ်ဆက်ကြသည်။

နာတာရှာသည် ရထားထဲ၌ မိခင်မြို့စားကတော် ကြီး ၏ဘေးတွင် ထိုင် လျက် လိုက်ပါလာရာက လူအပေါင်း တို့ ထွက်ပြေးစွန့်ပစ်ကြသော မော်စကိုမြို့ ကြီးရှိ အိမ်များ၊ အဆောက်အအုံများ တရိပ်ရိပ်ကျန်ရစ်ခဲ့သည်ကို ကြည့် လိုက်ပါ လာ၏။ နာတာရှာ၏စိတ်တွင် ဤမျှလောက် တစ်ခါမှ မပျော်ဖူးသေးချေ။ တစ်ခါတစ်ရံတွင်လည်း နာတာရှာသည် ပြတင်းဝမှ ခေါင်းပြူကာ နောက်သို့လည်း

ကောင်း၊ မိမိတို့ရှေ့ရှိ လူနာတင်လှည်း တစ်သီတစ်တန်း ကြီးကို လည်းကောင်း လှမ်းကြည့်မိသည်။ လှည်းတန်း ကြီး၏ ထိပ်ဆုံး၌ မင်းသားကလေးအင် ရေ၏ပေါင်းမိုးနှစ်  ထပ်မိုးထားသော ကရထားကို မြင်ရ၏။ ထိုကရထားထဲ တွင် မည်သူပါသည်ကို နာတာရှာ မသိသေးချေ။ သို့ရာ တွင် ရှေ့က လှည်းတန်းကြီးဆီ သို့ ခေါင်းပြူ၍ ကြည့် လိုက်တိုင်း နာတာရှာ၏မျက်လုံးများသည် နှစ်ထပ်ပေါင်းမိုး နှင့် ကရထားဆီသို့ အလိုလိုရောက်သွားကြသည်။ လှည်း တန်းကြီးထိပ်မှ နှစ်ထပ် ပေါင်းမိုးနှင့် ကရထားက ခေါင်း ဆောင်မောင်းနေသည်မှာ ကြည့်၍ကောင်းသေး သည်ဟုပင် ထင်မိသေးသည်။

ကူဒရီနိုရပ်ကွက်သို့ ရောက်သောအခါ နီကစ္စကီ၊ ပရက်စညာ၊ ပူနော်ဒင် စ သောလမ်းများမှ လှည်းတန်းကြီး များ ထွက်လာကြပြန်လေသည်။ ဆာဒိုဗယလမ်း သို့ ရောက်သောအခါ၌ကား ကရထားများနှင့် လှည်းတန်းကြီး မှာ လမ်းမပေါ်တွင် ရင်ပေါင်တန်း ဖြစ်နေပေပြီ။

စူခါရက်မျှော်စင်ကြီးကို ပတ်၍ မောင်းလာသည့် အခါတွင် ဘေးဝဲယာကို စူး စိုက်ကြည့်လာသည့် နာတာရှာ သည် ဝမ်းသာအံ့သြသံဖြင့်

”ဟောတော့ မေဖျား မေဖျားကြည့်စမ်း၊ ဆွန်ယာ ကြည့်စမ်း၊ သူမဟုတ်လား သူ သူ”

“ဘယ်သူလဲ၊ ဘယ်သူလဲ”

“ဟိုမှာလေ အစ်ကို မဟုတ်လား။ အစ်ကိုပီယာ “လေ”

နာတာရှာသည် ရထားပြတင်းမှ ခေါင်းထွက်၍ ရထားသမားအင်္ကျီရှည်ကြီး ကို ဝတ်ထားသည့် အရပ်ရှည် ရှည် ထောင်ထောင်မောင်းမောင်းသူတစ်ယောက်ကို စိုက် ကြည့်နေသည်။ ထိုလူမှာ ရထားသမားဝတ်လေ့ရှိသော အင်္ကျီရှည်ကြီးကို

ဝတ်ထားသော်လည်း သွားပုံလာပုံကို ထောက်၍ ရုပ်ဖျက်ထားသော လူရတတ် တစ်ယောက်မှန်း သိသာနိုင်၏။ ထိုလူသည် ခပ်သေးသေး၊ မျက်နှာ သွယ်သွယ်၊ မုတ်ဆိတ်ကျင်စွယ်မရှိသော အဘိုးကြီးတစ်ဦး နှင့်အတူ စူခါရက်မျှော်စင်ကုန်းကြီး အောက်မှ ထွက်လာ၏။

"အစစ်ပေါ့ အစ်ကိုပီယာရယ်။ ရထားသမားအင်္ကျီ ရှည်ကြီးဝတ်လို့၊ ဘေးက လဲ လူစိမ်းအဘိုးကြီးတစ်ယောက် ပါသေးတယ်။ ကြည့်စမ်း ကြည့်စမ်း"

"အို၊ ဘယ်က ဟုတ်ရမှာလဲ။ ပီယာက ဘယ်လို လုပ် ဒီကို ရောက်နေမှာလဲ။ ကြံကြံဖန်ဖန်"

"ဟုတ်တယ် မေဖျား တကယ်။ မယုံရင် နာတာ ရှာပြမယ်။ အီဖင် အီဖင် ခဏရပ်စမ်းပါ" နာတာရှာက အော်ပြော၏။

သို့ရာတွင် အီဖင်သည် ရထားကို ရပ်၍ မရချေ။ မက်ချန်နီလမ်းဘက်မှ နောက်ထပ်ကရထားများနှင့် လှည်း တန်းကြီး ထွက်လာပြန်သဖြင့် လမ်းမှာ ပြည့်ကျပ်လျက် ရှိပေပြီ။ အီဖင်က ခေတ္တရပ်လိုက်စဉ် လမ်းပိတ်သွားသဖြင့် နောက်လှည်းများက အော်ဟစ်နေကြပေပြီ။

သို့ဖြင့် ရထားသည် ရပ်၍မရဘဲ ဆက်၍ မောင်း လာခဲ့သည်။ အတန်ငယ် ဝေးလာပြီဖြစ်သော်လည်း ရထား ထဲမှ လူများသည် ရထားသမားအင်္ကျီရှည်ကို ဝတ်ထား သည့် ပီယာ(သို့မဟုတ် ပီယာနှင့် တူသူတစ်ဦး)ကို လှမ်း မြင်နေရသည်။ ထိုသူသည် အစေတော်တစ်ဦးနှင့်တူသည့် မုတ်ဆိတ်မွေးမရှိသော သေးသေးညှက် ညှက် အဘိုးအိုကြီး ဘေးမှ ခေါင်းကိုငုံ့၍ လမ်းမအတိုင်း လျှောက်လာသည်။ ထိုအ ဘိုးကြီးသည် ကရထားပြတင်းမှ မိမိတို့ရှိရာသို့ ထွက် ပြူကြည့်နေသောမျက်နှာ တစ်ခုကို မြင်လိုက်သည်၌ ပီယာ ကို တံတောင်ဖြင့်တို့၍ တစ်စုံတစ်ရာပြောကာ ကရထား ဘက်သို့ ညွှန်ပြနေ၏။ အတွေးနယ်ချဲ့လာဟန်တူသော ပီယာသည် အ

ဘိုးကြီး၏စကားကို ကောင်းစွာနားမလည်ဘဲ ကြောင်ကြည့်နေသည်။ အတန်ကြာမှ ရထားဆီသို့ လှမ်း ကြည့်လိုက်သည်တွင် နာတာရှာကို မြင်လိုက်ဟန်တူသည်။ နာတာရှာကို မြင်လိုက်သည်နှင့် ပထမဆုံးပေါ်လာသော စိတ်ကူး၏စေ့ဆော်မှုဖြင့် ပီယာသည် ရထားနောက်သို့ ခပ်သုတ်သုတ်လိုက်လာ၏။ သို့ရာတွင် ဆယ်လှမ်းလောက် လှမ်းမိသောအခါ တစ်စုံတစ်ခုကို အမှတ်ရသွားဟန်ဖြင့် ဆက်မလိုက်တော့ဘဲ ရပ်နေသည်။

ရထားပြတင်းမှ ပြူးထွက်နေသော နာတာရှာ၏ မျက်နှာမှာ ဝင်းထိန်နေသည်။

"အစ်ကို၊ အစ်ကို၊ အစ်ကိုပီယာ လာလေ့ လာ။ အစ်ကို ဒီမှာ ဘာလာလုပ်နေတာလဲဟင်။ ဝတ်စား ထားလိုက်တာကလဲ ကြည့်စမ်းပါဦး။ ဘယ်လို ဖြစ်နေ တာလဲ။ နာတာရှာ မှတ်မိပါတယ် အစ်ကိုရဲ့"

နာတာရှာက လက်ကို ကမ်းပေး၏။ ပီယာသည် တအိအိမောင်းလျက်ရှိသော ရထားဘေးမှ ပြေး၍ လိုက် လာကာ ရထားထဲမှ ထွက်လာသော နာတာရှာ၏ဖြူဖွေး သေးသွယ်သည့် လက်ကလေးကို ဖမ်းယူဆပ်ကိုင်၍ နမ်းလိုက်သည်။

"ဘယ်လိုဖြစ်လာတာလဲ တူတော်မောင်" မြို့စား ကတော်ကြီး အံ့အားသင့်လျက် မေးလိုက်သည်။

"ခင်ဗျား။ ဟုတ် ဟုတ်ကဲ့။ ကျွန်တော် နောက်မှ ပြောပြပါ့မယ် အရီးတော်" ပီယာက ရွှင်ပြုံးဝင်းထိန်လျက် ရှိသော နာတာရှာ၏မျက်နှာကလေး (ထိုမျက်နှာကလေး ဝင်းထိန်လျက်ရှိခြင်းကို မကြည့်ဘဲနှင့်လည်း ပီယာ မြင် နေပါသည်။) ကို ရွှန်းရွှန်းစားစားကြည့်လိုက်သည်။

“တူတော်မောင်က မော်စကိုမှာ နေရစ်ခဲ့မလို့ ပီယာက တွေနေသည်။

“ဟုတ် ဟုတ်ကဲ့။ ကျွန်တော် နေရစ်ခဲ့မလို့ခင်ဗျ။ က် သွားကြပေတော့”

“အစ်ကို နာတာရှာသာ ယောကျ်ားလေးဖြစ်ရင် အစ်ကိုနဲ့ နေရစ်ခဲ့မှာပဲ။ သိလား မေဖျား။ မေဖျားခွင့်ပြု ရင် နာတာရှာ နေရစ်ခဲ့မယ်လေ။ နော် မေဖျား”

ပီယာက နာတာရှာကို ကြည့်၍ တစ်စုံတစ်ရာ ပြောလိုက်မည်ပြုစဉ် မြို့စားကတော်ကြီးက

”တူတော်မောင် တိုက်ပွဲသွားနေတယ်ဆို”

“ဟုတ်ကဲ့၊ ကျွန်တော်ပြန်လာပါပြီ အရီးတော်။ မနက်ဖြန်ဆိုရင် ဒီမှာလဲ တိုက်ပွဲ ဖြစ်လိမ့်မယ် ထင်ပါ တယ်”

ပီယာက စကားမဆက်မီ နာတာရှာက ဖြတ်၍

”အစ်ကိုလဲ ဘယ်လို ဖြစ်နေတာလဲ။ ကြည့်ရတာ တစ်မျိုးကြီးပဲ”

“နောက်တော့ သိလိမ့်မယ် ညီမရေ။ အခုတော့ အစ်ကို့ဘာသာတောင် အစ်ကို ဘာဖြစ်နေမှန်း မသိဘူး။ ကဲ ကဲ သွားကြပေတော့။ အခြေအနေတော့ မကောင်း ဘူး”

ပီယာသည် လမ်းဘေးသို့ ခုန်ဆင်း၍ ကျန်ရစ်ခဲ့ သည်။

နာတာရှာသည် တော်တော်ဝေးသည်အထိ ရထား ပြတင်းမှ ခေါင်းပြူး၍ထွက်ကာ ကြည်လင်တောက်ပသော အပြုံးဖြင့် ပီယာကို နောက်ပြန်လှည့်ကြည့်၍ လိုက်ပါ သွားလေသတည်း။

# အခန်း ၁၈

ပီယာသည် စံအိမ်မှ တိတ်တဆိတ် ထွက်လာပြီးနောက် လွန်ခဲ့သည့် နှစ်ရက်အတွင်းက ၎င်း၏ကွယ်လွန်သူ ဥပဇ္ဈာယ်ဆရာ ဘာဇာဒီယက်၏အိမ်တွင် ခိုအောင်းနေခဲ့ လေသည်။ ထိုနှစ်ရက်အတွင်း ပီယာတွေ့ကြုံရပုံမှာ ဤသို့ ဖြစ်၏။

မော်စကိုသို့ပြန်ရောက်၍ မြို့ဝန်ရော့စတော့ချင်က မိမိအား မော်စကိုမှ ထွက်ခွာသွားရန် နှင်ထုတ်ခြင်းခံရပြီး သည့်နောက်၌ ပီယာသည် စိတ်မောလူမောဖြင့် အိပ် လိုက်ရာ နောက်တစ်နေ့နံနက် နေမြင့်မှ နိုးလာလေသည်။ အိပ်ရာကနိုးသော် ပီယာသည် မည်သည့်အရပ်ဒေသသို့ ရောက်နေသည်ကို ရုတ်တရက် ဝေခွဲမရနိုင်အောင် ဖြစ် နေသည်။ ထိုအခိုက် အစေတော်တစ်ယောက်က ရောက် လာ၍ မိမိအားတွေ့ဆုံရန် ဧည့်ခန်းဆောင်ထဲတွင် စောင့် ဆိုင်းနေသူများထဲ၌ ပြင်သစ်တစ်ယောက်ပါကြောင်း၊ ၎င်းထံ၌ ကြင်ရာတော်ဟယ်လင်မင်းသမီးထံမှ စာတစ်စောင်လည်းပါကြောင်း ပြောဆိုသည့်အခါကျတော့မှ ပီယာ သည် မိမိရင်ဆိုင်ရမည့်ဇာတ်ရှုပ်ကြီးကို ပြန်၍ သတိရ လာသည်။ ပီဃာ့အဖို့၌ ပြဿနာအားလုံးသည် ပြီးဆုံး ခြင်းသို့ရောက်လေပြီ။ မိမိ၏ မျှော်လင့်ချက်တို့သည် အစိတ် စိတ်အမြွာမြွာ ပြိုကွဲပျက်စီးခဲ့လေပြီ။ လောက၌ မည်သူက မှား၍ မည်သူကမှန်သည်ဟူသော စံထားချက်တို့သည် ပျောက်ကွယ်ခဲ့လေပြီ။ အနာဂတ်ဆိုသည်မှာလည်း ဘာမျှအဓိပ္ပာယ်မရှိသောအရာ ဖြစ်လာခဲ့လေပြီ။ မိမိသည်လည်း ဤဇာတ်ရှုပ်ကြီးထဲ၌ တဝဲလည်လည်မျောလျက် ရှိလေပြီ ဟု ဘောပေါက်လာခဲ့သည်။ ပီယာသည် တမင်လုပ်၍ `ပြုံးကာ ကိုယ့်ကိုယ်ကို အပြစ်တင်မိသည်။ ထို့နောက် စိတ်ပျက်လက်ပျက်ဖြင့် ထိုင်ဖုံပေါ်တွင် ထိုင်ချလိုက်သည်။ သို့ရာတွင် ထိုင်၍မရ။ ထို့ကြောင့် ထ၍ ဧည့်ခန်းဆောင် ဘက်သို့ လျှောက်လာကာ တံခါးကြားမှ ချောင်း၍ ကြည့် လိုက်၏။ ထို့နောက် စိတ်ပျက်စွာဖြင့် လက်ကို ဝှေ့ယမ်း၍

ပြန်လာကာ စာအုပ်တစ်အုပ်ကို ကောက်ဖတ်၏။ ပီယာ၏ လက်စွဲတော်ကျွန်ယုံ ကြီးသည် ဒုတိယအကြိမ် ရောက်လာ ပြန်ကာ ကြင်ရာတော်ဟယ်လင်မင်းသမီး လေး ၏ စာကို လာပေးသော ပြင်သစ်မိတ်ဆွေက သူ့အား ခေတ္တဖြစ်စေ တွေ့လို သည်ပြောဆိုနေကြောင်း၊ ပီယာ၏ ဥပဇ္ဈာယ်ဆရာ ၏ဇနီးထံမှလည်း မိမိမှာ ကျေးလက်သို့ ပြောင်းရွှေ့မည် ဖြစ်၍ သူ့ခွင်ပွန်းသည်၏ စာအုပ်များ၊ မှတ်တမ်း မှတ်စု များ အလိုရှိက လာရောက်သိမ်းဆည်းစေလိုသည်ဟု လူ တစ်ယောက် လွှတ်၍ ပြောခိုင်းလိုက်ကြောင်းဖြင့် ပြောဆို ပြန်သည်။

"အား ဟုတ်ပေသားပဲ။ ခဏစောင့်ဦးလို့ ပြော လိုက်။ အို နေပါစေတော့ လေ။ ခုပဲ လာခဲ့မယ်လို့ ပြော လိုက်" ပီယာက ပြောလိုက်သည်။

သို့ရာတွင် လက်စွဲတော်ကျွန်ယုံကြီး ထွက်သွား သည်နှင့် ပီယာသည် စားပွဲ ပေါ်ရှိဦးထုပ်ကို ကောက်ဆောင်း ကာ အခြားတံခါးပေါက်မှ ထွက်လာခဲ့သည်။ စာကြည့် ဆောင်နှင့် ဧည့်ခန်းဆောင်ကို ကူးသည့် စင်္ကြံလမ်းကြား ၌ လူသူတစ် ယောက်မျှ မရှိချေ။ ပီယာသည် စင်္ကြံအဆုံး လှေကားထိပ်သို့ လျှောက်လာခဲ့ပြီး မျက်မှောင်ကုတ်၍ နဖူးကို လက်နှစ်ဖက်ဖြင့် ကုတ်၏။ ထို့နောက် လှေကား ရင်း ရောက်အောင် ဆင်းလာခဲ့သည်။ အခန်းစောင့် အစေ တော်သည် တံခါးဝတွင်ရပ် လျက် ရှိ၏။ ပီယာနှင့် မလှမ်း မကမ်း၌ အနောက်ဆောင်ဘက်သို့ ကူးသော လှေကား ရှိ၏။ ပီယာသည် ထိုလှေကားမှဆင်းကာ စံအိမ်နောက်ဖေး တလင်းပြင် သို့ ဆင်းလာခဲ့သည်။ ယခုအချိန်ထိ မိမိကို မည်သူမျှ မမြင်ကြသေးချေ။ အိမ် နောက်ဖေးတလင်းထဲ၌ မိမိစီးလာသော ကရထားအချို့ ရပ်နေကြ၏။ ပီယာ ထွက်လာသည်နှင့်တစ်ပြိုင်နက် ရထားသမားများနှင့် ဝင်း စောင့်တို့က ဦးထုပ် ချွတ်၍ အရိုအသေပြုကြ၏။ မိမိအား ဝိုင်း၍ ကြည့်နေကြသည်ဟု သိသည်နှင့် ပီ ယာသည် လူ မမြင်စေရန် ခေါင်းကို ချုံထဲသို့ ဝှက်ထားသည့် ငှက် ကုလားအုတ် တစ်ကောင်ကဲ့သို့ ခေါင်းငိုက်စိုက်ချ၍ လမ်းမ သို့ ထွက်လာခဲ့သည်။

ယနေ့ပြုဖွယ်ရှိသည့်ကိစ္စများအနက် ပီဃာ့အဖို့ အရေးအကြီးဆုံးမှာ ၎င်း၏ဥပဇ္ဈာယ်ဆရာ ဘာဒ္ဒာဒီယက် ၏ စာအုပ်စာတမ်းများ၊ မှတ်စုများကို ရွေးချယ်သိမ်းဆည်း ရန် ဖြစ်သည်။

ပီယာသည် လမ်းတွင်တွေ့သည့် ရထားတစ်စီးကို လှမ်းခေါ်လိုက်ပြီး ဥပဇ္ဈာယ်ဆရာ ဘာဒ္ဒာဒီယက်၏ဇနီး နေထိုင်ရာ ကန်တော်ကြီးသာသနာ့ရိပ်သာ ရပ်ကွက်သို့ ထွက်လာခဲ့သည်။

ပီယာသည် အိုမင်းဟောင်းနွမ်းလှပြီ ဖြစ်သော ရထားပေါ်မှ ၎င်း၏လေးလံ တုတ်ခိုင်သော ခန္ဓာကိုယ်ကြီး လိမ့်ကျမသွားအောင် မတ်မတ်ထိုင်လိုက်လာရင်း မော်စကို - မြို့ပြင်သို့ ထွက်ခွာနေကြသော လှည်းတန်းကြီးများကို ငေးကြည့်လာ ရာမှ ကျောင်းပြေးသောသူငယ်၏ ဝမ်းသာ ပျော်ရွှင်ခြင်းမျိုးဖြင့် ရထားသမားကို စကားပြောကြည့် သည်။

ရထားသမားက ယနေ့မြို့သူ မြို့သားများအား ကရင်မလင်နန်းတော်ထဲတွင် လက်နက်များ ထုတ်ပေး နေကြောင်း၊ နက်ဖြန်တွင် တောင်သုံးလုံးတံခါးမှ နေ၍ ရန်သူများကို ခုခံတိုက်ခိုက်ရန် စေလွှတ်မည်ဖြစ်ကြောင်း၊ ထို့ကြောင့် တိုက်ပွဲ အပြင်းအထန်ဖြစ်ပွားဖွယ်ရှိကြောင်းဖြင့် ပြောပြ၏။

ကန်တော်ကြီး သာသနာ့ရိပ်သာ ရပ်ကွက်သို့ ရောက်သော် ကာလ အတန်ကြာမျှ မရောက်ခဲ့သော ဥပဇ္ဈာယ်ဆရာ၏အိမ်ကို မနည်းရှာယူရ၏။ ဝင်းတံခါး သို့ အရောက်၌ လွန်ခဲ့သည့်ငါးနှစ် ဥပဇ္ဈာယ်ဆရာနှင့် ပထမဆုံးတွေ့စဉ် က အတူတွေ့ခဲ့ရသော မုတ်ဆိတ်ကျင် စွယ်မရှိသည့် အဘိုးအို ဂျီရာဆင်က တံခါး ကို လာဖွင့် ပေး၏။

“ဆရာကတော်ကော”

"အခြေအနေမကောင်းတာနဲ့ ကလေးတွေကိုပါ ခေါ်ပြီး တောင်ကျေပိုင် စားနယ်မြေဘက်ကို သွားကြပြီ မြို့စားလေး"

"အေးဗျာ၊ ကျွန်တော်အိမ်ထဲဝင်ပြီး ဆရာ့စာအုပ် တွေကို သိမ်းဆည်းထား ချင်တယ်"

"ကောင်းပါတယ် မြို့စားလေး။ လာလေ ဝင်ခဲ့ ( ပါ။ ဒီမှာတော့ ဆရာရဲ့ညီ မာကာအယ်လက်ဇီဗစ်ပဲ ရှိတော့တယ်။ အဘိုးကြီးလဲ ကောင်းကောင်းမမာဘူး"

မာကာ အယ်လက်ဇီဗစ်မှာ ပီယာဆရာ၏ အဖေစုံ အမေကွဲညီဖြစ်၍ အရက် ကို အလွန်အကျူးသောက်ခြင်း ကြောင့် စိတ်ဖောက်ပြန် ရူးသွပ်လျက်ရှိသူ ဖြစ်၏။

"ဩော် ဟုတ်လား" ပီယာက အိမ်ထဲသို့ ဝင်လိုက်လာခဲ့၏။ အရပ်ရှည်ရှည်၊ ခေါင်းတုံးပြောင်ပြောင်၊ နှာခေါင်း  နီနီနှင့် လူတစ်ယောက်သည် ညဝတ်ဝတ်စုံကြီး ကို ဝတ်၍ ခြေထောက်တွင် ဖိနပ်ပေါ်က ထပ်စွပ်သော အဝတ်ဖိနပ် ကြီးကို ဖိနပ်မ ပါဘဲစွပ်ထားလျက် အပေါက်ဝတွင် မားမား ကြီး ရပ်နေ၏။ ထိုသူသည် ခက်ထန် တင်းမာသော မျက်နှာ ထားဖြင့် ပီယာကို ကြည့်လိုက်ပြီး ဆဲရေးတိုင်းထွာကာ နောက်ဖေးသို့ ထွက်သွား၏။

"အဘိုးကြီးက ငယ်ငယ်တုန်းကတော့ အတော် သား မြို့စားလေးရဲ့။ ခုတော့ သွက်သွက်လည်အောင် ဦးနှောက်ပျက်နေရှာပါပြီ" ဂျီရာဆင်က ဆို၏။ "စာကြည့် ဆောင်ထဲ ဝင်ကြည့်ပါလား မြို့စားလေး။ စာကြည့်ဆောင် ကို ချိပ်ပိတ်ထားလို့ အားလုံး ခြေရာလက်ရာမပျက် ရှိ ပါတယ်။ မြို့စားလေးဆီက စာအုပ်တွေ အယူ လွှတ်ရင် ဖွင့်ပေးလိုက်လို့ ဆရာကတော်က မှာသွားပါတယ်"

ပီယာသည် မည်းမှောင်လှသော စာကြည့်ဆောင် ထဲသို့ ဝင်လာခဲ့၏။ ၎င်း၏ဥပဇ္ဈာယ်ဆရာရှိစဉ်တုန်းကမူ ကား ပီယာသည် ထိုအခန်းကို ဝင်တိုင်း

ရင်ခုန်ခဲ့ရသည်။ ၎င်း၏ဆရာကွယ်လွန်ပြီးကတည်းက ပိတ်ထားခဲ့သော စာကြည့် ဆောင်မှာ ယခုအချိန်တွင် ဖုန်အလိမ်းလိမ်း တက်ကာ ပို၍ မည်းမှောင်နေသည်ဟု ထင်ရ၏။

ဂျီရာဆင်သည် ပြတင်းပေါက်တစ်ပေါက်ကို ဖွင့် ပေးပြီး ခြေဖျားထောက်၍ ထွက်သွားလေသည်။ ပီယာ သည် စာကြည့်ခန်းကို လျှောက်ကြည့်ပြီးနောက် မှတ်တမ်း များထားသော ဗီရိုကြီးအနားသို့ ကပ်လာခဲ့ပြီး တစ်ခါက အရေးကြီး သော မှတ်တမ်းတစ်ခုဖြစ်သည့် ညီအစ်ကိုတော် ဂိုဏ်းကြီး၏ မှတ်တမ်းကို ယူ ကြည့်သည်။ ထိုမှတ်တမ်း ကြီးမှာ ညီအစ်ကိုတော်ဂိုဏ်းကြီး၏စည်းမျဉ်းဥပဒေသ များကို ရေးမှတ်ထားသည့် ရှားပါးသောမှတ်တမ်းကြီး တစ်ဆူ ဖြစ်ပြီး ဘေးတွင် ၎င်းဆရာ၏မှတ်စုများနှင့် မှတ် ချက်များကိုလည်း တွေ့ရ၏ ။ ပီယာသည် ဖုန် တက်လျက် ရှိသောစားပွဲတွင် ထိုင်ကာ မှတ်တမ်းကြီးကို လှန်ကြည့်၍ ပြန်ပိတ် လိုက်ပြီး ခေါင်းငိုက်စိုက်ချလျက် စဉ်းစားနေမိ သည်။

ဂျီရာဆင်သည် စာကြည့်ခန်းထဲသို့ မကြာခဏ လှမ်း၍ကြည့်၏။ ကြည့်တိုင်း ပီယာမှာ မလှုပ်မရှား ထိုင်လျက်ရှိခြင်းကို တွေ့ရသည်။

နှစ်နာရီကျော်ကျော်ကြာသည့်အခါ၌ ဂျီရာဆင် သည် အရဲစွန့်ကာ တံခါးနား သို့ကပ်၍ အသံပြုလိုက် သည်။ သို့ရာတွင် ပီယာကား တုတ်တုတ်မျှ မလှုပ်။

“ရထားသမားကို ပြန်လွှတ်လိုက်ရတော့မလား မြို့စားလေး”

. “အို၊ ဟုတ်သားပဲ” ပီယာသည် ထိုင်ရာမှ ထ လိုက်၏။ ထို့နောက် ဂျီရာ ဆင်၏အကျႌရင်ဘတ်ကိုဆွဲကာ စိုစွတ်တောက်ပနေသော မျက်လုံးများဖြင့် ငုံ့ကြည့်လိုက် သည်။

“ဂျီရာဆင်” ဂျီရာဆင်က မော့ကြည့်သည်။

“မနက်ဖြန်မှာ တိုက်ပွဲဖြစ်ကြတော့မယ်။ သိတယ် မဟုတ်လား”

“ဟုတ်ကဲ့၊ ကြားပါတယ် မြို့စားလေး”

“ကျွန်တော် ဘယ်သူလဲဆိုတာ ဘယ်သူ့ကိုမှ မပြောပါနဲ့။ ပြီးတော့ ကျွန်တော့်ကိုလဲ တစ်ခုခု လုပ်ပေး စမ်းပါ”

“ဟုတ်ကဲ့ မြို့စားလေး၊ အလိုရှိတာ ပြောပါ။ ၊ တစ်ခုခုစားမလား မြို့စားလေး”

“ဟင့်အင်း မစားပါဘူး။ ကျွန်တော် လယ်သမား ဝတ်စုံတစ်စုံနဲ့ ပြောင်းတို သေနတ်တစ်လက်လောက် လို ချင်တယ်၊ ရနိုင်မလား”

ပီယာက ပြော၏။

“ဟုတ်ကဲ့၊ ရပါ့မယ် မြို့စားလေး” ဂျီရာဆင်က ခေတ္တစဉ်းစားပြီးနောက် ဖြေလိုက်သည်။ “

ထိုနေ့တစ်နေ့လုံး ပီယာသည် ဥပဇ္ဈာယ်ဆရာ၏ အခန်းထဲတွင် တစ်နေကုန် အခန်းအောင်းနေ၏။ တစ်ခါ တစ်ရံ၌ ခေါက်တုံ့ခေါက်ပြန်လမ်းလျှောက်နေသံနှင့် တစ် ယောက်တည်း စကားပြောနေသံကို ဂျီရာဆင် ကြားရ၏။ ထိုနေ့ညဉ့်လည်း ပီယာသည် ဂျီရာဆင် ပြင်ပေးသော အိပ်ရာတွင် အိပ်လေသည်။

ငယ်ငယ်ကတည်းက သစ္စာရှိသော ကျွန်ကြီး တစ်ယောက်ဖြစ်ခဲ့၍ ထူးဆန်းသောအခြင်းအရာများကို မြင်ခဲ့ဖူးပြီဖြစ်သော ဂျီရာဆင်သည် မိမိတို့ထံ ပီယာလာ ရောက်ခိုအောင်းနေခြင်းကို အနည်းငယ်မျှ အံ့ဩခြင်း မဖြစ် တော့ချေ။ ယခုကဲ့သို့ မိမိကပြုစုစောင့်ရှောက်ပေးရမည့်သူ တစ်ဦး ရောက်လာခြင်းအတွက် ကျေနပ်၍ပင် နေသေး၏။

ထိုနေ့ညၥ် ဂျီရာဆင်သည် ပီယာအတွက် ရထားသမား ဝတ်စုံတစ်စုံနှင့် ဦးထုပ်တစ်လုံးကို ရှာလာခဲ့၏။ ပြောင်းတို သေနတ်မှာမူ နက်ဖြန်မှ ရမည် ဖြစ်လေသည်။ ဂျီရာဆင် သည် ထိုပစ္စည်းများကို ပီယာက အဘယ်ကြောင့် အရှာခိုင်းသည်ဟုပင် စဉ်းစားခြင်းမပြုဘဲ အလွယ်တကူ ရှာ ပေးခဲ့သည်။ ညပိုင်းတွင် မာကာအလက်ဇီဗစ်သည် ခြေသံ တရှပ်ရှပ်ပေး၍ အခန်းဝသို့ ရောက်လာပြီး ပီယာကို မကျေနပ်သောအမူအရာဖြင့် ကြည့်သေး၏။ သို့ရာတွင် ပီယာက ပြန်ကြည့်လိုက်သည်နှင့် မာကာသည် ရှက် ကြောက် စိတ်ဆိုးသောမျက်နှာထားဖြင့် ဝတ်ရုံအကျီကြီး ကို ကိုယ်တွင်ပတ်လိုက်ပြီး ထွက်သွားလေသည်။ ထိုသို့ ဂျီရာဆင်ရှာပေးသော ရထားသမားဝတ်စုံကြီးကို ဝတ်၍ ဂျီရာဆင်နှင့် အတူ စူခါရက်စျေးသို့ သေနတ်ဝယ်ရန်အလာ ၌ ပီယာသည် နာတာရာနှင့် တွေ့ခဲ့ခြင်း ဖြစ်ပေသတည်း။

# အခန်း ၁၉

မော်စကိုကို ဖြတ်၍ ရာဇန်ပေတစ်ရာလမ်းမကြီးအတိုင်း ဆုတ်ခွာရမည် ဟူသော စစ်သေနာပတိချုပ် ကူတူဇော့ဖ်၏ အမိန့်ကို စက်တင်ဘာလ ၁-ရက်နေ့ ညတွင် ထုတ်ပြန် လိုက်လေသည်။

ရှေ့ကြောင်းချီတပ်များသည် အမိန့်ရသည်နှင့် ချက်ချင်းဆက်ခွာစ ပြုကြလေသည်။ ထိုညတစ်ညလုံး တပ်များသည် ဖြည်းညင်းစွာ စနစ်တကျ ဆုတ်ခွာလာခဲ့ ကြ၏။ သို့ရာတွင် အရဏ်တက်၍ မော်စကိုမြို့ ဒိုရိုဂိုမီ လော့တံခါး တံတားအနီးသို့ ရောက်လာသည့်အခါတွင် မူကား ရှေ့၌ တံတားကို တရကြမ်းစုပြုံတိုးဝှေ့ဖြတ် ကျော်နေကြသော စစ်သားထုကြီးကို တွေ့ရလေသည်။ အချို့မှာ ကျုံးတစ်ဖက်သို့ ရောက်သွားကြကာ သူ့ထက်ငါ တိုးဝှေ့ဆုတ်ခွာလျက်ရှိလေရာ ရှေ့ဆက်သွား၍ မရတော့ဘဲ လမ်းများပိတ်ဆို့လျက် ရှိလေသည်။ ဤသို့ ကျုံး

တစ်ဖက် ရှိလမ်းများပေါ်တွင် ပြည့်ကျပ်၍ တိုးမပေါက်အောင်ဖြစ်နေ ချိန်၌ နောက်ကတပ်များကလည်း ကျုံးတံတားကို ကျော် ဖြတ်၍ ရောက်လာကြပြန်ရာ နောက်ဆုံး၌ စစ်သားထုကြီး သည် ထိန်းမနိုင် သိမ်းမရလောက်အောင် အရမ်းကာရော တိုးဝှေ့လျက် ရှိကြလေသည်။ နောက်ကတပ်များကလည်း ( တံတားဦးဆီသို့ အတင်းပြုတိုးကာ အချို့က တံတားပေါ် တွင် ပွတ်သိပ်တိုးလျက် ရှိပြီး အချို့ကလည်း ကျုံးထဲရှိ လှေ များဆီသို့ လည်းကောင်း၊ ရေတိမ်ရာသို့ လည်းကောင်း အလုအယက်ပြေးလျက် ရှိကြ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် ကိုယ်တိုင်မှာလည်း မော်စကိုမြို့တစ်ဖက်သို့ အခြားလမ်းမှ ဖြတ်ကူးရောက်ရှိသွား ပြီ ဖြစ်လေသည်။

စက်တင်ဘာလ ၂ ရက်နေ့ ဆယ်ချက်တီး အချိန်လောက်၌ ကားတပ်များ အားလုံး လောက်ပင် ကျုံး တစ်ဖက်သို့ ကူးဖြတ်ပြီးဖြစ်လျက် နောက်ဖျားတပ်များ သာ လျှင် ဒိုရိုဂိုမီလော့ ဆင်ခြေဖုံးရပ်ကွက်တွင် ကျန်ရစ်ခဲ့ကြ လေရာ ခပ်စောစော ကလောက် စုပြုံတိုးဝှေ့ခြင်း မရှိတော့ ချေ။ ပင်မစစ်တပ်ကြီးမှာ မော်စကိုမြို့ကို ကျော်ဖြတ် ဆုတ်ခွာသွားခဲ့လေပြီ။

စက်တင်ဘာလ ၂-ရက်နေ့နံနက် ဆယ်ချက်တီး ထိုအချိန်၌ နပိုလီယန်သည် မိမိ၏တပ်များခြံရံလျက် ပေါက္ကလုံနီ တောင်ကုန်းပေါ်မှ စီး၍ ရှေ့တွင် တစ်ဝန်း တစ်လျားကြီးရှိသော မြင်ကွင်းကြီးကို ရှုစားလျက် ရှိလေ သည်။ ဘိုရိုဒီနိုတိုက်ပွဲ ဖြစ်ပွားသည့် ဩဂုတ်လ ၂၆ရက်နေ့နှင့် မော်စကိုမြို့တွင်းသို့ ပြင်သစ်တပ်များ ဝင် ရောက်သည့် စက်တင်ဘာလ ၂-ရက်နေ့ ကြားကာလ ကား ထိတ်လန့်တုန်လှုပ် ဖွယ်ကောင်း၍ မေ့နိုင်ဖွယ်မရှိ သော ကာလကြီး ဖြစ်၏။ ထိုရက်သတ္တပတ်အတွင်း နွေ နှောင်းရာသီဥတုသည် မသာယာစဖူး အထူးသာယာလျက် ရှိ၏။ ကောင်းကင် သည် အဖန်ဖန်ပွတ်တိုက်အပ်သော ကြေးမုံပြင်ကဲ့သို့ ကြည်စင်ဝင်းပ၏။ နေဝန်း သည် ရွှင်လန်း စွာ တောက်၍ နွေရာသီထက်ပင် နွေးထွေး၏။ ရှုခင်းက လည်း

မျက်လုံးကို ဖြဲ၍ ကြည့်ရအောင် လှပတင့်တယ် ခြင်းကို ဆောင်၏။ သင်းပျံ့ လတ်ဆတ်သော နွေနှောင်း ရာသီ လေပြည်လေညင်းကလည်း အဆုတ်များ ပြည့် ဖောင်းလာသည့်တိုင် ရှု၍မဝ၊ မွှေး၍ မဝအောင် တသုန်သုန် တညင်းညင်း တိုက်ခတ်၏။ ညချမ်းချိန်များသည်ပင် နွေးလျက် ရှိ၏။ ပူနွေး၍ မည်းမှောင်သော ထိုညများ၌ ရွှေကြယ်ပွင့်များသည် ဖျတ်ခနဲ လန့်ဖျပ်ကာ ကြည့်၍ မဝနိုင်အောင် ကောင်းကင်မှ ကြွေကျသွားကြ၏။

စက်တင်ဘာလ ၂-ရက်နေ့နံနက် ဆယ်ချက်တီး အချိန်ထိ ထိုကြည်လင် သော ရာသီဥတုသည် လောက ခေတ်ကြီးတစ်ခုလုံးကို ရစ်ပတ်ထွေးခြုံထားဆဲ ဖြစ်သည်။

နံနက်ခင်း၏တောက်ပရွှန်းလင်းပုံကား အံ့ဘနန်း ဖြစ်၏။ ပေါက္ကလုံနီ တောင်ကုန်းထက်မှ စီးမြင်နေရသော မော်စကိုမြို့ကြီးသည် မြို့လယ်၌ ရစ်ခွေစီး ဆင်းသော မော်စကာဗာမြစ်ကြီးနှင့်တကွ စိမ်းစိုမှိုင်းမိုသော ဥယျာဉ် ပန်းမန်များ၊ စုလစ်မွန်းချွန်သော သုမ္ဘာဇရပ်များဖြင့် မျှော်မဆုံးနိုင်အောင် တည်ရှိ၏။ မော်စ ကိုမြို့ကြီးသည် ခါတိုင်းကဲ့သို့ အသက်ဝင်လှုပ်ရှားနေသည် ထင်ရ၏။ အမိုး ထိပ်ဖျားများမှ ဘုံဆောင်များသည် နေခြည်ထဲ၌ ကြယ်ပွင့်များသဖွယ် တ လက်လက်တောက်ပလျက် ရှိ ကြ၏။

မိမိတို့ မသိဖူး၊ မတွေ့ဖူးသော အသစ်အဆန်း တစ်ခုကို မြင်ရသည့်အခါ၌ ထိုအရာကို ခုံမင်မက်မောခြင်း၊ စိတ်ဝင်စားခြင်း၊ ဂနာမငြိမ်ခြင်းစသည့် ဝေဒနာ များသည် လူတို့၏ရင်ထဲ၌ ပေါ်ပေါက်လာတတ်စမြဲ ဖြစ်၏။ ဆန်း ကြယ်သော ဗိသုကာလက်ရာတို့ဖြင့် ပြီးသော ထူးဆန်း သည့် မော်စကိုမြို့ကြီး၏ မြင်ကွင်း သည်လည်း နပိုလီယန် ၏ရင်၌ ထိုသို့သောခံစားချက်မျိုးကို ပေါ်ပေါက်စေပေ၏။ မော်စကိုမြို့ကြီး၏ အသွင်သဏ္ဌာန်သည် အသက်ခေတ် အားအပြည့်ဖြင့် လှုပ်ရှား

နေသကဲ့သို့ပင် ထင်ရတော့သည်။ အသက်ရှင်နေသောခန္ဓာကိုယ်တစ်ခုနှင့် အသက်ကုန်နေ သော ခန္ဓာကိုယ်တစ်ခုတို့သည် တစ်ခုနှင့် တစ်ခု မည်သို့ ခြားနား ကြောင်းကို အတိအကျဖော်ပြ၍ မရသော်လည်း ထိုအရာနှစ်ခုတို့သည် သွင်ပြင် လက္ခဏာအားဖြင့် အကြီး အကျယ်ခြားနားကြသည်ကား အမှန်ပင် ဖြစ်၏။ ၎င်းတို့ကို အဝေးမှ ကြည့်လျှင်ပင် "ဤကား သက်ရှိ၊ ဤကား သက်မဲ့" ဟု ခွဲခြား၍ ရနိုင်လေသည်။ နပိုလီယန်သည် ပေါက္ကလုံနီတောင်ကုန်းထက်၌ ရပ်၍ ထိုသွင်ပြင် လက္ခဏာ များကို မမိုတ်မသုံ လှမ်းမျှော်ကြည့်လျက်ရှိ၏။ သို့ကြည့် လိုက်သည့် အခါ၌ နပိုလီယန်သည် မော်စကိုမြို့ကြီး၏ ဝိညာဏကသဘာဝကို ရှုမြင်မိ၏။ လှပကြီးမားနေသော ခန္ဓာကြီးတစ်ခုသည် ထွက်သက် ဝင်သက် ရှူရှိုက်နေသကဲ့သို့ ထင်မှတ်မိ၏။

မော်စကိုမြို့ကြီးကို မြင်ရသော ရုရှားလူမျိုးတိုင်း သည် ထိုမြို့ကြီးကို မိမိ၏အမိသဖွယ် သဘောထားလေ့ ရှိကြ၍ ထိုမြို့ကြီးကို မြင်ရသော နိုင်ငံခြားသားများမှာမူ (ထိုမြို့ကြီး၏မိခင် မြို့ကြီးအဖြစ် ထင်ရှားကျော်ကြား ခြင်းကို မသိသည့်တိုင်) ၎င်း၌ မိန်းမတစ်ဦးသဖွယ် တင့်တယ်ပြေပြစ်ခြင်းမျိုးရှိသည်ဆိုသည့် အချက်ကိုကား သတိပြုမိတတ်ကြသည်ဖြစ်ရာ နပိုလီယန်သည်လည်း ထိုအချက်ကို သတိပြုမိ၏။

"အာရှတိုက်၏သွင်ပြင်လက္ခဏာကို ဆောင်သော ဤမြို့ကြီးသည် မရေမတွက်နိုင်သော သုစမ္မာဇရပ် အဆောင်ဆောင်တို့ဖြင့် ပြီးကုန်၏။ မြတ်သော မြို့ကြီး တစ်မြို့လည်း ဖြစ်၏။ ယခု ထင်ရှားကြီးကျယ်သော မြို့ကြီးအနီးသို့ ငါ ရောက်ခဲ့ပြီ။ ဤမြို့ကြီးတွင် ငါ၏ ခြေချရန် အချိန်တန်ခဲ့ပြီ"

နပိုလီယန်သည် ဤသို့ဆိုကာ မြင်းထက်မှ ဆင်း၏။ မော်စကိုမြေပုံကို ရှေ့၌ဖြန့်၏။ ထို့နောက် စကားပြန် လီလော်ည်ကို ရှေ့တော်သို့ ဆင့်ခေါ်၏။

"ရန်သူ သိမ်းပိုက်ခြင်းခံရသော မြို့တစ်မြို့ကား အပျိုရည်ပျက်ပြီးသော သမီးကညာနှင့်ပင် တူတော့သည်" ဟု နပိုလီယန် တွေး၏။ (စမိုးလင့်၌ ရုရှား ဗိုလ်ချုပ် တူချ်ကော့ကိုလည်း ဤအတိုင်း ပြောခဲ့ဖူးပါသည်။) နပို လီယန်သည် ထို နေရာမှ"ထိုအမြင်ဖြင့် ယခင်က မမြင်ခဲ့ ဖူးသေးသော အရှေ့တိုင်း၏လှပတင့်တယ် ခြင်းကို ကြည့် ၏။ အကောင်အထည် ဖြစ်နိုင်ဖွယ် မရှိသော၊ အနှစ်နှစ် အလလ တောင့်တခဲ့သော ၎င်း၏ဆန္ဒပြည့်ခဲ့ပြီ ဖြစ်၍လည်း မယုံနိုင်အောင် ဖြစ်လျက်ရှိ၏။ တောက်ပသော နံနက်ခင်း နေခြည်ထဲ၌ နပိုလီယန်သည် မော်စကိုမြို့ကြီးကို တစ် လှည့် မြေပုံကို တစ်လှည့်ကြည့်၍ အသေးစိတ်လေ့လာလျက် ရှိ၏။ သို့လေ့လာ ရင်းကလည်း ထိုမြို့ကြီးကို ငါ ပိုင်ရ တော့မည်ဟူသောအတွေးဖြင့် ဂနာမငြိမ်ဖြစ် လျက် ရှိလေ သည်။

"ဤမှလွဲ၍ အခြားဖြစ်နိုင်သေးသလော။ ဤမြို့ ကြီးသည် ယခု ငါ့ခြေဖဝါး အောက်သို့ ရောက်ပြီ မဟုတ် လော။ ယခုအချိန်၌ ရုရှားဘုရင် အလက်ဇန်းဒရား သည် ဘယ်ဆီ ဘယ်ဒေသသို့ ရောက်နေပြီနည်း။ မည်သည့် အကြောင်းကိစ္စတို့ကို တွေးတောစဉ်းစားနေဘိသနည်း။ ဤမြို့ကြီးကား ကျက်သရေမင်္ဂလာဖြင့် ပြည့်စုံ၏။ ဤအချိန် ဤအခါသည်လည်း ကျက်သရေမင်္ဂလာဖြင့် ပြည့်စုံပါပေ၏။ ငါသည် ငါ၏တပ်တော်များရှေ့၌ မည်သို့ မည်ပုံ ကိုယ်ထင်ပြရက သင့်လျော်ပေ မည်နည်း"

နပိုလီယန်သည် ၎င်း၏တပ်သားများထံသို့ စိတ် ရောက်သွားပြန်၏။ တစ် ဖန် မိမိအနီးတွင်ရှိသည့် စစ် ဗိုလ်ချုပ်များနှင့် မော်စကိုမြို့တွင်းသို့ ဝင်ရန် နေရာ ယူ တပ်စွဲနေသည့်တပ်များကိုကြည့်၍

"သင်းတို့ကား သရဲဘောနည်းလှ၏။ ယခု ငါ၏ ဘုန်းကံကြောင့် မော်စကို မြို့ကြီးကို ရပေပြီ။ မော်စကို မြို့သည် သရဲဘောကြောင်သူအားလုံးကို ငါ ချီးမြှင့်

သည့် ဆုလာဘ်သဖွယ် ဖြစ်တော့သည်။ ငါ၏ပါးစပ်မှ စကား တစ်ခွန်းပြောရုံ၊ ငါ၏လက်တစ်ဖက် ဝှေ့ယမ်းရုံ၊ ငါလက် ဖျောက်တစ်ချက် တီးလိုက်ရုံမျှဖြင့် ဇာဘုရင်တို့၏ ရှေး ဟောင်းမြို့တော်ကြီးသည် ပျက်စီးသွားရချေတော့အံ့။ သို့ ရာတွင် ငါကား ရှုံးနိမ့်သူတို့ကို သနားညှာတာတတ်သူ တည်း။ ငါသည် ဘုန်းရှင် ကံရှင် ပါရမီရှင်ပီပီ သဘော ထားကြီးသူတည်း။ မော်စကိုမြို့ကြီး ငါ့ခြေဖဝါးအောက်သို့ ရောက်ပြီ။ ရွှေရောင်တောက်သော စုလစ်မွန်းချွန်များ သည် နေရောင်တွင် တပြောင်ပြောင် တလက်လက် တောက်ပစွာဖြင့် တင့်တယ်လှချေ၏။ ငါသည် ဤမြို့ကြီး ကို ချမ်းသာခွင့်ပေးအံ့။ လူရိုင်းစနစ်နှင့် သက်ဦးဆံပိုင် ဧကရာဇ် စနစ်၏အဆောက်အအုံများပေါ်၌ ငါသည် တရား မျှတခြင်းနှင့် ကြင်နာသနားခြင်း ဟူသော စာလုံးများကို ရေးထွင်းပေအံ့။ ဤသို့ ပြုလုပ်ခြင်းဖြင့်သာလျှင် အလက် ဇန်းဒရားဘု ရင်အား ဆုံးမပေးအံ့။ (မိမိ ရုရှားပြည်သို့ ချီတက်တိုက် ခိုက်ခြင်းမှာ မိမိနှင့် အလက်ဇန်းဒရားဘုရင်တို့၏ ပုဂ္ဂိုလ်ရေးတိုက်ပွဲကြောင့် ဖြစ်သည်ဟု ယူဆပုံရပါ သည်။) ငါသည် ကရင်မလင်နန်းမြင့်ဆောင်ထက်မှနေ၍ ရုရှားလူမျိုးတို့ အား မှန်ကန်သောတရားဥပဒေတို့ကိုပေးအံ့။ ငါသည် သင်တို့အား စစမှန်သော ယဉ်ကျေးမှုကို သင်ကြား ပေးအံ့။ ငါသည် ဇာဘုရင်၏အဆက်ဆက်ရှိသော သက်တော်ရှည် ဝန်ကြီးများအား ၎င်းတို့၏အရှင်သခင် ငါ့အား ထာဝစဉ် ချစ်ကြောက်ကျိုးနွံအောင် ပြုအံ့။ သက်တော်ရှည် ဝန်ကြီးများ ငါ့ထံသို့ ကိုယ်စားလှယ် ရောက်လာသည်နှင့် တစ်ပြိုင်နက် ငါသည် စစ်ကို လိုလားခြင်းမရှိကြောင်း ပြောအံ့။ ငါစစ်တိုက်ရခြင်းသည် သင်းတို့ ရွှေနန်းရှင် ဇာဘုရင်၏ မှားယွင်းသောဝါဒကြောင့် သာဖြစ်ကြောင်းကို ရှင်းပြပေအံ့။ ငါသည် အလက်ဇန်း ဒရားဘုရင်အား ချစ်ကြည်လေးစားကြောင်းကို သင်းတို့အား ရှင်းပြအံ့။ ' မော်စကိုသိမ်းပိုက် ပြီးသည့်နောက်တွင် ငါသည် ငါ၏ဂုဏ် သိက္ခာ၊ ငါ့လူမျိုး၏ ဂုဏ်သိက္ခာနှင့် ထိုက်တန်သော ငြိမ်းချမ်းရေးစည်းကမ်းချက်များကို လက်ခံ အံ့။ ငါသည် အခြား

လူမျိုးတို့ အထွတ်အမြတ်ထားသော ဘုရင်ဧကရာဇ် တစ်ဦးအား လက်နက်ပြ၍ နှိပ်နယ်ရှုတ်ချ ခြင်း မပြု ကြောင်းကို ပြအံ့။ ရုရှားဘုရင်၏ ကိုယ်စားလှယ်အဖွဲ့ ရောက်လာသည်နှင့် "အချင်းသက်တော်ရှည်ဝန်တို့၊ ငါသည် စစ်ကို လိုလားခြင်း မရှိ။ ငါ၏ကျေးတော်မျိုး ကျွန်တော်မျိုး တိုင်းသားပြည်သူတို့၏သက်သာချောင်ချိ ရေးနှင့် ငြိမ်းချမ်း ရေးကိုသာ အလိုရှိ၏"ဟု စကားဆိုအံ့။ ငါသည် သင်းတို့ ကိုယ်စားလှယ်အဖွဲ့ ရောက်လာသည်နှင့် မင်းကောင်း မင်းမြတ်တို့၏ကျင့်ဝတ်နှင့် အညီ ခံ့ညား တင့်တယ်သော စကားကိုသာ ဆိုအံ့။ သို့သော်လည်း ငါသည် မော်စကိုမြို့ ကို အကယ်ပင် ရောက်သည်မှန်၏ လော။ မှန်ပေ၏။ မော်စကိုမြို့သည် ငါ့ ခြေဖဝါးအောက်သို့ ရောက်ချေပြီ"

"မြို့ကို အပ်ဖို့ ကိုယ်စားလှယ် သက်တော်ရှည် ဝန်တွေလာလျှင် ငါ့ထံခေါ်ခဲ့ ကြ"

နပိုလီယန်သည် မိမိ၏အနီးတွင် ခစားလျက်ရှိ သော မှူးမတ်များကို စေခိုင်း လိုက်၏။

စစ်ဗိုလ်ချုပ်တစ်ဦးသည် နောက်လိုက်နောက်ပါတို့ ခြံရံလျက် မြို့ကိုအပ်ရန် လာအံ့သောကိုယ်စားလှယ်အဖွဲ့ ကို ကြိုဆိုရန် မြင်းကိုယ်စီဖြင့် ထွက်ခွာသွားကြ လေသည်။

သို့ဖြင့် နာရီနှစ်ချက်တီးခန့် ကြာသွား၏။ နပို လီယန်သည် နေ့လယ်စာ သုံးဆောင်ပြီးနောက် ယခင်က အတိုင်း ပေါက္ကလုံနီတောင်ကုန်းထိပ်တွင် ရပ်၍ မြို့အပ် မည့်ကိုယ်စားလှယ်အဖွဲ့ကို စောင့်မျှော်လျက်ရှိလေသည်။ စိတ်ထဲ၌လည်း ကိုယ်စားလှယ်သက်တော်ရှည်ဝန်ကြီးများ အား ပြောကြားမည့်စကားများကို စဉ်းစားလျက်ရှိရာက မိမိ၏စကားများသည် ကြီးမြတ်သောရာဇဣန္ဒြေနှင့် ထိုက် တန်ပေသည်ဟု ကျေနပ်လျက် ရှိပေသည်။

မော်စကိုမြို့ကို သိမ်းပိုက်ပြီးသည်နှင့် မော်စကို မြို့သူမြို့သားများအား ရင်ဝယ်သားကဲ့သို့ သနားကြင်နာ ကြောင်း မည်သို့မည်ပုံ ပြသရမည်ကို စဉ်းစားလျက်ရှိ လေသည်။ နပိုလီယန်သည် စိတ်ကူးဖြင့် ဇာဘုရင်များ၏ နန်းဆောင်များထဲတွင် ညီလာခံကြီး ကျင်းပလျက် ရှိ သည်။ ရုရှားမှူးမတ်သေနာပတိများနှင့် မိမိ၏မှူးမတ်သေနာ ပတိများ ဖက်လှဲတကင်း ရင်းရင်းနှီးနှီးဆက်ဆံနေကြပုံ ကို မြင်ယောင်နေသည်။ မော်စကိုမြို့သူ မြို့သားများ စိတ်တိုင်းကျသော မြို့ဝန်တစ်ယောက်ကိုလည်း စိတ်ကူး ဖြင့် ခန့်နေသည်။ မော်စကို၌ သာသနာရေး အဆောက်အအုံ များ၊ စေတနာ့ဝန်ထမ်းအဖွဲ့ များ များစွာရှိသည်ဟု ကြား ပြီးဖြစ်သည့်အတွက် ထိုအဆောက်အအုံများ၊ အဖွဲ့အစည်း များကို ချီးမြှောက်အားပေးရန် စိတ်ကူးဖြင့် ဆုံးဖြတ်နေ သည်။ အာဖရိကတိုက်သို့ ရောက်ခဲ့စဉ်က မွတ်ဆလင်ဘုရင်များ၏ မင်းမြောက်တန်ဆာတို့ကိုဝတ်ဆင်၍ ဗလီသို့ တက်ခဲ့သည့်နည်းတူ ရုရှားပြည်၌လည်း ရုရှားဘုရင်များ၏ မင်းမြောက်တန်ဆာတို့ကိုဝတ်ဆင်၍ တိုင်းသူပြည်သားတို့ အား မင်းကျင့်တရားနှင့် အညီ အုပ်ချုပ်မည်ဟု စိတ်ကူးလျက် ရှိသည်။ ပြင်သစ်လူမျိုးတို့သည် “ကျေးဇူးတော် အနန္တ နှင့်ပြည့်စုံတော်မူသော မွေးသမိခင်”ကို နှလုံးမသွင်း ဘဲ စိတ်ကူးယဉ်ရသည့်လူမျိုး မဟုတ်သည့်အတိုင်း နပို လီယန်သည်လည်း မိမိလှူဒါန်းသော သာသနာရေး အဆောက်အအုံကြီးများ၌ “ကျေးဇူးတော်အနန္တနှင့် ပြည့်စုံ တော်မူသော မယ်တော်ဘုရားကို ရည်မှန်း၍ လှူဒါန်း သည်” ဟူသော ကမ္ပည်းစာတမ်း ရေးထိုးမည်။ ဤသို့ ရေးထိုးခြင်းဖြင့် ရုရှားလူမျိုးတို့သည် မိခင်၏ကျေးဇူးတော် ကို သိတတ်သောမိမိအား ကြည်ညိုလေးစားကြလိမ့်မည် ဟု စိတ်ကူးလျက် ရှိသည်။

“အလို နေစမ်းပါဦး။ ငါ တကယ်ကော မော်စကို ကို ရောက်နေခြင်း ဟုတ်၏လော။ အိမ်း၊ ဟုတ်ပေ သားပဲ မော်စကိုမြို့ကြီး ငါ့ ရှေ့ရောက်နေပြီကပဲ။

ဘောက် မယ့်ကြောင့် မြို့ကို အပ်မယ့် သက်တော်ရှည်ဝန်တွေ မရောက်လာကြသေးသတုံး”

နပိုလီယန်သည် စိတ်ကူးယဉ်ယဉ်ဖြင့် ဤသို့ တွေးလျက် ရှိ၏။

ထိုအခိုက် မိမိနောက်ပါးတွင် ခစားလျက်ရှိသည့် စစ်သူကြီးများနှင့် စစ်ဗိုလ်ချုပ်များဆီမှ ရေးကြီးသုတ်ပျာ တီးတိုးတိုင်ပင်နေသံများကို ကြားရလေသည်။ မြို့ကို အပ်မည့် သက်တော်ရှည်ဝန်များကို ကြိုဆိုရန် လွှတ်လိုက် သော စစ်ဗိုလ်ချုပ်သည် ပြန်ရောက်လာကာ မော်စကိုမှာ လူသူတစ်ယောက်မျှ မရှိတော့ကြောင်း၊ အားလုံးထွက်ခွာ သွားကြပြီဖြစ်ကြောင်းဖြင့် သတင်းပေးပို့လေ့ ရှိသည်။ ဤသတင်းကို ကြားလိုက်ရသည့် စစ်သူကြီးများနှင့် စစ် ဗိုလ်ချုပ်များ၏မျက်နှာမှာ သွေးဆုတ်သကဲ့သို့ ဖြူရော် သွားကြလေပြီ။ ကြီးစွာထိတ်လန့်တုန်လှုပ်ခြင်း ဖြစ်လျက် ရှိကြလေပြီ။ ၎င်းတို့ တုန်လှုပ်ခြင်းအကြောင်းကား မော်စကိုမြို့သူ မြို့သားများက ၎င်းတို့မြို့ကြီးကို စွန့်ခွာ သွားကြခြင်းကြောင့် မဟုတ်။ (အမှန်အားဖြင့် ထိုအချက် မှာလည်း ၎င်းတို့အဖို့ တုန်လှုပ်ချောက်ချားဖွယ်ကောင်း သည်သာ ဖြစ်ပါသည်။) မော်စကိုမြို့ထဲတွင် အရက်သမား များမှ အပ မည်သူမျှ မရှိတော့သည့်ပြင် မြို့ကိုအပ်မည့် သက်တော်ရှည်ဝန်များလည်း ရောက်လာတော့မည် မဟုတ် သည့်အတွက် ဤအတိုင်းအဖြစ်အပျက်အမှန်ကို လျှောက် တင်ချေက စိတ်ကူးယဉ်ယဉ်ဖြင့် ကြာရှည်စွာ စောင့်ဆိုင်း လျက်ရှိသော မိမိတို့ ဘုရင်ဧကရာဇ်အား မဟာအရှက် တော်ခွဲရာ ရောက်ချေတော့မည်။ မင်းဧကရာဇ်ကြီးစင် လျက် ဤမျှကြာရှည်စွာစောင့်သော်လည်း ဤသို့ အချည်း နှီးဖြစ်ရခြင်းသည် လူရယ်စရာကြီး ဖြစ်ချေတော့မည်ဟု တွေးမိကြကာ မည်သို့မည်ပုံ လျှောက်တင်ရပါမည်နည်းဟု အကြံရခက်သောကြောင့် ထိတ်လန့်ချောက်ချားနေကြခြင်း ဖြစ်လေသည်။ အချို့ဗိုလ်ချုပ်များက သက်တော်ရှည်ဝန် များ၏ ကိုယ်စားလှယ်အဖွဲ့ မဟုတ်

သည့်တိုင် ကိုယ်စား လှယ်အဖွဲ့ တစ်ခုခုကို ရှာဖွေ၍ ရှေ့တော်သွင်းလျှင် မသင့်လောဟု ဆိုကြ၏။ အချို့က ဤအကြံကို ကန့်ကွက်ကာ ဘုရင်ဧကရာဇ် နပိုလီယန်ကို သွယ်ဝိုက်ဖျောင်းဖျ၍ ( အမှန်အတိုင်းဖွင့်ပြောသင့်သည်ဟု ဆိုကြ၏။

"ကျုပ်တို့ကတော့ မှန်ရာကို လျှောက်တင်စေချင် သဗျ။ နောက်ကျမှ အလိမ်ပေါ်လို့ ရာဇမာန်ရှရင် အားလုံး ဒုက္ခရောက်ကုန်လိမ့်မယ်"ဟု စစ်ဗိုလ်ချုပ်တစ်ဦးက ဆို၏။

ထိုအချိန်၌ နပိုလီယန်သည် ၎င်း၏စိတ်ကူးယဉ် အုပ်ချုပ်ရေးစီမံကိန်းကြီးကို စဉ်းစားကာ မော်စကိုမြို့ မြေပုံကြီးရှေ့ချ၍ လမ်းလျှောက်ရင်း စဉ်းစားလိုက်၊ ငါ့လိုလူ ဇမ္ဗူ ရှိသေးသလောဟူသော အပြုံးမျိုးဖြင့် ကိုယ် စားလှယ်အဖွဲ့ လာမည့်လမ်းကို မှန်းကြည့်လိုက်ပြုနေပြန် သည်တွင် မှူးမတ်များမှာ အဖြစ်မှန်ကိုလျှောက်တင်ရန် အခက်တွေ့သည်ထက် တွေ့နေကြလေသည်။

"အမှန်အတိုင်း လျှောက်တင်လို့တော့ မဖြစ်ပေ ဘူးဗျ။ မင်းဧကရာဇ်ကြီး စင်လျက် ဒီလောက်စောင့်ရက် သားနဲ့ ဒီလိုဖြစ်ရတယ်ဆိုတော့ လူရယ်စရာကြီး ဖြစ် လိမ့်မယ်" စစ်ဗိုလ်ချုပ်တစ်ဦးက ပခုံးကိုတွန့်၍ "လူ ရယ်စရာကြီး" ဆိုသော စကားလုံးကို မရဲတရဲဖြင့် ဆို၏။

နောက်ဆုံးတွင် နပိုလီယန်သည် ဤမျှ ကြာရှည် စွာစောင့်ဆိုင်းရခြင်းကို ငြီးငွေ့လာခဲ့လေပြီ။ အထွတ်အထိပ် ကာလတစ်ခုသည် လွန်စွာအချိန်ကြာမြင့်လာသည်နှင့်အမျှ အထွတ်အထိပ်ရောက်ခြင်းသဘောမှ ရွေ့လျာကျဆင်း လာခဲ့တတ်သည်ဟူသောအချက်ကို သဘောပေါက်လာခဲ့ လေပြီ။ ထို့ကြောင့် နပိုလီယန်သည် လက်တစ်ဖက်ကို ဝှေ့ယမ်း၍ အချက်ပေးလိုက်သည်။ ထိုသည်နှင့် တစ်ပြိုင်နက် အချက်ပေးအမြောက်သံတစ်ချက် ထွက်ပေါ်လာကာ မော်စကိုမြို့ကို ပတ်ပတ်လည်ဝိုင်းထားသည့် ပြင်သစ်တပ် များသည် တဗာတံခါး၊ ကာလူဂါတံခါး

နှင့် ဒိုရိုဂိုမီလော့ တံခါးတို့မှ အိုင့်နေရာမှ ရေကာတာကျိုးပေါက်သည့်နှယ် မြို့တွင်းသို့ တရဟော ဝင်ရောက်လာကြလေသည်။ ပြင်သစ်တပ်သားများသည် သူ့ထက်ငါ ဦးအောင် မော်စကိုမြို့ထဲသို့ ပြေးဝင်လာကြကာ ၎င်းတို့နောက်မှ လိမ့်တက်လာသော ဖုန်လုံးကြီးများထဲတွင် ပျောက်ကွယ် သွားကြလျက် ပတ်ဝန်းကျင် တစ်ဝိုက်၌လည်း အော်ဟစ် ကြွေးကြော်သံများသည် ကမ္ဘာပျက်သည့်ပမာ သောသော ညံလျက် ရှိလေသည်။

နပိုလီယန်သည် မြို့တွင်းသို့ ချီတက်သွားကြသော မိမိ၏တပ်များကို ကျေနပ်အားရစွာကြည့်လျက် မြင်းကို စီးကာ ဒိုရိုဂိုမီလော့တံခါးသို့ ရောက်လာခဲ့၏။ မြို့ရိုး တံခါးဝသို့ ရောက်လျှင် ရပ်တန့်၍ မြင်းပေါ်မှ ဆင်းပြီး နောက် ကင်မာကိုလက်စကီခံတပ်အနီးတွင် လမ်းသလား ရင်း မော်စကိုမြို့ထဲမှ ထွက်လာအံ့သော ကိုယ်စားလှယ် အဖွဲ့ ကို အချိန်အတော်ကြာမျှ စောင့်ဆိုင်းလျက် ရှိလေသတည်း။

# အခန်း ၂၀

ထိုအချိန်၌ မော်စကိုမြို့ကြီးသည် ဟင်းလင်းဖြစ်လျက် ရှိ၏။ မြို့ထဲ၌ လူများ ရှိပါသေးသည်။ အပုံငါးဆယ် ပုံလျှင် တစ်ပုံမျှသော မြို့သူ မြို့သားတို့ ကျန်ရှိကောင်း  ကျန်ရှိပါလိမ့်ဦးမည်။ သို့ရာတွင် မြို့ကြီးကား ဟင်းလင်း ဖြစ်လျက် ရှိလေပြီ။ မော်စကိုမြို့ ဟင်းလင်းဖြစ်လျက် ရှိပုံမှာ ပျားဘုရင်မကင်းမဲ့သော ပျားအုံတစ်အုံ၏ ဟင်း ရှိပုံမှာ ဖြစ်လေသည်။ မကင်းမဲ့သော လင်းဖြစ်ပုံသို့သော် ပျားဘုရင် အသက် လျက် ရှိ၏။ ပျားများသည်လည်း သာမန်ကြည့်သော် ပျားဘုရင်မကင်းမဲ့သော ပျား အုံတစ်အုံသည် အခြားပျားအုံများနည်းတူ အသက်ဝင် လှုပ်ရှားနေသယောင် ထင်ရ၏။ သို့ရာတွင် တကယ်၌ ကား အသက်မရှိတော့ချေ။

မွန်းတည့်နေမင်း၏ ပူပြင်းသော နေခြည်အောက် ၌ ပျားများသည် ပျားဘုရင်မကင်းမဲ့သော ပျားအုံတစ်အုံ ( အနီးတွင် တဝီဝီအော်မြည်ပျံသန်းလျက် ရှိကြ၏။ ၎င်းတို့ ပျံဝဲလှုပ်ရှားပုံသည် အသက်ရှင်လျက်ရှိသော ပျားအုံတစ်အုံ ( အနီးတွင် ပျံဝဲနေကြသကဲ့သို့ ရှိ၏။ အဝေးမှ ကြည့်လျှင် ထိုပျားအုံသည် အခြား ပျားအုံများနည်းတူ ပျားရနံ့သင်း အုံ လူးလာ ပျံသန်းလျက်ရှိ၏။ သို့ရာတွင် အနီးကပ်၍ သေသေချာ ချာကြည့်သောအခါ၌မူကား ထိုပျားအုံ၌ အသက် မရှိ တော့ ပြီ။ ပျားများ ပျံဝဲလှုပ်ရှားနေပုံသည် ယခင်ကကဲ့သို့ မဟုတ် တော့ပြီ။ ပျားအုံ မှ အနံ့သည် ယခင်ကအနံ့မျိုး မဟုတ် တော့ပြီ။ ပျားများ၏ မြည်ပုံသည် ယခင်က မြည်ပုံမျိုး မဟုတ်တော့ပြီ။

သက်ရှိပျားအုံတစ်အုံကို တုတ်ဖြင့် ထိုးလိုက်မည် ဆိုက ထောင်ပေါင်းများစွာ သောပျားကောင်တို့သည် တဝီဝီ အော်မြည်ကာ ဝမ်းဗိုက်ကိုရှုံ့လျက် ရန်သူကို တုပ်အံ့ဟု မာန်ဖီတတ်ကြ၏။ ထောင်ပေါင်းများစွာသော ပျားကောင် တို့က လျင်မြန်စွာအတောင်ခတ်လျက်ရှိခြင်းကြောင့် တဝီဝီ မြည်သံကြီးကိုလည်း ကြား ရတတ်၏။ သို့ရာတွင် ပျက်စီးစ ပြုလျက်ရှိသော ပျားအုံတစ်အုံကို တုတ်ဖြင့် ထိုး လိုက် လျှင်ကား ထိုအသံမျိုးကို မကြားရတော့ပြီ။ ထိုမာန်ဖီ ခြင်းမျိုးကို မတွေ့ရ တော့ပြီ။ ထိုအသံများအစား ယင်း `ပျားအပေါင်းတို့ စွန့်ပျံလေပြီးသော ပျားအုံ၏ပျားသွင်း ပေါက် အချို့၌ ကျန်ရစ်ခဲ့ကြသော ပျားကောင်အချို့၏ ညီညာ ခြင်းမရှိ ဖျော့တော့အားနည်းသောမြည်သံကိုသာ ကြားရတော့သည်။

သက်ရှိ ပျားအုံတစ်အုံ၏ ပျားလပို့သည် မူးယစ် ထုံပျံ့သော ပျားရည်နံ့ဖြင့် မွှေးနေတတ်၏။ စေးပျစ်သော  မမ ဗ ပျားဖယောင်းရုံဖြင့် သင်းနေတတ်၏။ တစ် ကောင့် တစ် ကောင်ပြည့်ကျပ် ပြွတ်သိပ်လျက်ရှိသော ပျားကောင်ပေါင်း များစွာ တို့၏ အနွေးဓာတ်ဖြင့် ပူနွေးလျက် ရှိတတ်၏။ သို့ ရာတွင် ပျားဘုရင်မကင်းမဲ့ သော ပျားအုံ၌ကား ထိုသို့ မဟုတ်တော့ပြီ။ ပျားရည်နံ့ ရောထွေးလျက်ရှိသည့်

ပျက်စီး ယိုယွင်းနေသောအနံ့မျိုးနှင့် ဟောင်းနွမ်းဆွေးမြည့်နေသော အနံ့မျိုးသာ ရတော့သည်။ ဝမ်းဗိုက်ကို ရှုံ့၍ ရန်သူလာပြီ ဟု အချက်ပေးတတ်သော၊ အသက်ကို အသေခံ၍ မိမိ တို့၏အသိုက်အအုံကို ကာကွယ်သော တိုက်များတို့လည်း မရှိတော့ပြီ။ ပျားကောင်တို့၏ ရေနွေးပွက်ပွက်ဆူသံကဲ့သို့ ရှိသော ညီညာဖြဖြ တရွရွ လှုပ်ရှားနေသံကိုလည်း မကြား ရတော့ပြီ။ ၎င်းတို့အစား အုံပျက်သဖြင့် ဖရိုဖရဲ မညီမညာ အော်မြည်သံများကိုသာ ကြားရတော့သည်။ ပျားအုံအတွင်း အပြင်၌ ပျားရည်တို့အလိမ်းလိမ်းကပ်လျက် ရှည်လျား မည်းနက်သော ကိုယ်ခန္ဓာရှိသည့် လုပ်သားပျားများသည် မဝံ့မရဲဖြင့် ထိုမှ ဤမှ ကူးလူးလျက် ရှိကြ၏။ လုပ်သားပျားများသည် ရန်သူကို တုပ်ခြင်း မပြုတော့ဘဲ အန္တရာယ် ကင်းရာသို့ ပျံရန် အားထုတ်လျက် ရှိကြ၏။

ယခင်ကဆိုလျှင် ပျားများသည် ပျားရည်အပြည့် သယ်ဆောင်၍ အုံတွင်းသို့ ဝင်သွားကြလျက် ထိုပျားရည် တို့ကို အုံတွင်းတွင် သိုမှီးထားခဲ့ကြပြီးမှ လက်လွတ် ပျံ ထွက်လာတတ်ကြ၏ ။ ယခုကား လက်လွတ်ဝင်သွားကြ ပြီး ပျားရည်တို့ကို သယ်ဆောင်၍ ထွက်လာခဲ့ကြ၏။ ပျားဖွပ်သမားသည် ပျားသလက်ကို လှန်ကြည့်၏။ ခါတိုင်း ဆိုလျှင် မည်းနက်ချောမွေ့ ပြောင်လက်လျက်ရှိသော လုပ် သားပျားများသည် ပျားအုံထိပ်အမိုးမှ အောက်ကြမ်းပြင် အထိ တစ်ကောင်တစ်ကောင် ခြေချင်းချိတ် ဖောက်ထိုး ဆွဲလျက်၊ ပျားဖယောင်းများကို ထုတ်လျက်၊ တစ်ရံမလပ် တဝီဝီအော်မြည်လျက် ရှိတတ်ကြ၏။ ယခုကား လေးလံ ထိုင်းမှိုင်း၍ ကိုယ်ခန္ဓာကြုံလှီဖျော့တော့သော ပျားတို့ သာလျှင် ပျားအုံ၏နံရံတွင် လည်းကောင်း၊ ကြမ်းပြင်တွင် လည်းကောင်း၊ ရည်ရွယ်ချက်ကင်းမဲ့စွာ ထိုမှ ဤမှ လူး လာနေကြခြင်းကို တွေ့ရ၏။ ပျားကောင်များက အတောင် ဖြင့် ပွတ်တိုက်ထားသဖြင့် ချောပြောင်ကာ ပျားဖယောင်း နှံ့ သင်းသော ကြမ်းပြင်သည်လည်း ပျားဖယောင်းခဲများ၊

ပျားဈေးများ၊ အနိုင်နိုင်လှုပ်လျက်ရှိသော သေအံ့ဆဲဆဲ ပျားကောင်များ၊ ပျားသေကောင်များဖြင့် ပြန့်ကြဲလျက် ရှိလေပြီ။

ပျားဖွပ်သမားသည် ပျားအုံအပေါ်ပိုင်းကို လှန် ကြည့်ပြန်သည်။ ပျားသွင်းပေါက်များ၌ အတန်းလိုက် အတန်းလိုက်၊ အစီလိုက် အစီလိုက်ဝင်ကာ ပျားကောင်ပေါက်ကလေးများကို အနွေးဓာတ်ပေးကြသည့်ပျားကောင် များကို မတွေ့ရတော့ချေ။ ကျွမ်းကျင်သေသပ်စွာ ဆောက် လုပ်ထားသော ပျားသွင်းပေါက်များကိုသာ ဟာလာဟင်း လင်း တွေ့ရတော့သည်။ သို့ရာတွင် ဟင်းလင်းဖြစ်လျက် လင်း တွေ့ရ သ ည်လည်း ယခင်ကကဲ့သို့ ရှိသော ထိုပျားသွင်းပေါက် သန့်ရှင်းစင်ကြယ်ခြင်း မရှိတော့ချေ။ ညစ်ထေး ပေကျန်ခဲ့ လေပြီ။ မည်းနက်တောက်ပြောင်သော လုပ်သားများများ သည် ပျားသွင်းပေါက်ထဲသို့ ထွက်တုံဝင်တုံပြုလျက် ရှိ ' ကြ၍ ရှုံ့ကြုံလှီသော ယင်ဖျားများမှာမူကား ပျားအို ကြီးများကဲ့သို့ အာရုံခံစားလိုသော ဆန္ဒ ကုန်ခန်းကာ လုပ်သားပျားများကို နှောင့်ယှက်ခြင်း မရှိတော့ဘဲ " သွားလျက် ရှိကြ၏။ ပျားထီးများ၊ ပိတုန်းများ၊ နကျည် ကောင်များ၊ လိပ်ပြာများသည် ခိုကိုးရာမဲ့လူးလာပျံသန်း ရင်း ပျားအုံနံရံနှင့် တိုက်မိပြီး အောက်သို့ ကျလာကြ၏။ ပျားရည်နှင့် ပျားကောင်ပေါက်များထားရာဖြစ်သည့် ပျား သွင်းပေါက်များထဲမှ ဒေါသတကြီးဖြင့် ဝီခန် ဝီခနဲအော် မြည်သံကို ပြတ်တောင်း ပြတ်တောင်းကြားရ၏။ တစ်ခါ ( တစ်ရံ၌လည်း ပျားကောင်အချို့သည် ပျားကောင်ပေါက် ကလေးများရှိရာ များသွင်းပေါက်များကို သန့်ရှင်းစင် ကြယ်အောင် လုပ်လေ့ရှိကြသည့်အတိုင်း ပျားကောင်အသေ များ၊ ပိတုန်းကောင်အသေများကို မနိုင့်တနိုင်ဖြင့် သယ် ဆောင်လာကြ၏။ သို့ရာတွင် ပြုရိုးပြုစဉ်ကိစ္စ ဖြစ်၍ ပြု လုပ်ခြင်းမျိုးသာ ဖြစ်ပါလျက် အဘယ့်ကြောင့် ယခုကဲ့သို့ ပြုလုပ်နေကြသည်ကိုမူကား သိကြဟန် မတူတော့ချေ။

တစ်နေရာ၌ကား ပျားအိုကြီးနှစ်ကောင်သည် တစ်ကောင် ( တစ်ကောင် သတ်ဖြတ်လျက် ရှိကြ၏။ နောက်တစ်နေရာ၌ ပျားနှစ်ကောင်သည် မိမိကိုယ်မှ

အညစ်အကြေးများကို ဆေးကြောသန့်စင်လျက် ရှိကြ၏။ အခြားတစ်နေရာ၌မူ ဖျားနှစ်ကောင်သည် တစ်ကောင့်တစ်ကောင် အစာကျွေး လျက် ရှိကြ၏။ ဤ အပြုအမူများကို ပြုလုပ်၍ သာနေ ကြသော်လည်း ၎င်းတို့သည် တစ်ကောင်တစ် ကောင်  ရန်လိုသောသဘောဖြင့် ပြုမူနေကြခြင်းလော၊ မိတ်ဆွေ သဘောဖြင့် ပြုမူ နေကြခြင်းလောဆိုသည်ကို မသိကြတော့ ချေ။ အခြားတစ်နေရာ၌ကား ပျားတစ် အုပ်သည် ပျားအုံ ထဲသို့ ကျူးကျော်ဝင်ရောက်သည့် ရန်သူ ပိုးကောင်တစ် ကောင် ကို သူ့ထက်ငါ တိုးဝှေ့ကိုက်ခဲ သတ်ဖြတ်နေကြ သည်။ ခဏကြာသောအခါ ထို ပိုးကောင်သည် ခုခံစွမ်း မရှိတော့သောကြောင့်လော၊ အသက်ဆုံးရှုံးပြီဖြစ်၍လော မသိ၊ ငှက်တောင်ကလေးတစ်ကောင်ကဲ့သို့ ပျားအုံကြမ်း ပြင်ရှိ ပျားကောင်သေ များပေါ်သို့ ကျသွား၏။

ပျားဖွပ်သမားသည် ပျားသွင်းပေါက်များကို ကြည့် ရန်အတွက် အလယ်က ပျားလပို့ကြီးကို ဆွဲဖယ်လိုက် သည်။ ယခင်ကမူ ဤနေရာ၌ ထောင်ပေါင်းများစွာ သော ပျားတို့သည် တစ်ကောင်တစ်ကောင် ကျောချင်းကပ်၍ ပြွတ်သိပ်ထိုင်ကာ လျှို့ဝှက်ဆန်းကြယ်သော မျိုးဆက် ကြီးတစ်ခုလုံးအား ကာကွယ်စောင့်ရှောက် လျက်ရှိခြင်းကို တွေ့ ရသော်လည်း ယခုသော်ကား ရည်ရွယ်ချက်ကင်းမဲ့၍ လေးလံထိုင်းမှိုင်းလျက်ရှိသော ပျားကောင်အချို့ကိုသာ တွေ့ရတော့သည်။ ပျားကောင်အချို့သည် ၎င်းတို့ကာ ကွယ်စောင့်ရှောက်ခဲ့သည့် ပျက်စီးယိုယွင်းစပြု နေပြီဖြစ် သောအဆောက်အအုံကြီးထဲတွင် အသက်ကင်းမဲ့လျက် ရှိကြလေပြီ။ ၎င်းတို့ကိုယ်မှ ပုပ်သိုးဆွေးမြည့်သည့် အနံ့သာ လျှင် ထွက်ခဲ့လေပြီ။ အချို့ပျားများ မှာကား မသေကြ သေးဘဲ တလှုပ်လှုပ်ဖြင့် ထလာကြကာ ရန်သူ ပျားဖွပ် သမား များ၏လက်ပေါ်သို့ ချည့်နဲ့စွာပျံလာပြီး နားနေကြ သည်။ သို့သော်လည်း ၎င်းတို့၌ ရန်သူကို တုတ်ရင်း သေမည်ဟူသော မာန်မရှိတော့ပြီ။ အချို့များများမှာလည်း မူး ဝေကာ ငါးအကြေးခွံများသဖွယ် အောက်သို့ လိမ့်ကျသွား ကြသည်။ ပျားဖွပ်သမား

သည် ဤသို့ စစ်ဆေးကြည့်ရှုပြီး နောက် ပျားအုံကို ပြန်ပိတ်ကာ ထုံးတို့မှတ်ထား လိုက်သည်။ အချိန် ရသည်နှင့် တစ်ပြိုင်နက် ထိုပျားအုံမှ ပျားရည်တို့ကို ထုတ်ယူကာ မီးရှို့ဖျက်ဆီးလိုက်တော့မည် ဖြစ်ပေသည်။

နပိုလီယန်သည် မျက်နှာကြီးသုန်မှုန်လျက် ကင်မာ ကိုလက်ဇကီခံတပ်ရှေ့၌ ခေါက်တုံ့ခေါက်ပြန် လမ်း လျှောက်၍ ကိုယ်စားလှယ်အဖွဲ့ကို စောင့်ဆိုင်းနေချိန်တွင် (နပိုလီယန်၏စိတ်တွင် အနည်းဆုံး ထုံးတမ်းစဉ်လာအရပင် ဖြစ်စေ မြို့ကို အပ်ရန် လာရောက်သင့်သည်ဟု ထင်သည်။) ထုတ်ယူဒီယန်သည် ခေါက်တုံ့ပြင်း နေချိန်  မော်စကိုမြို့ကြီးကား အထက်ဖော်ပြပါအတိုင်း ယင်းများ အပေါင်းတို့ ပျံလေပြီးသော ပျားအုံကြီးတစ်အုံသဖွယ် ဟာလာဟင်းလင်းဖြစ်လျက် ရှိလေသည်။

မော်စကိုမြို့ အကြိုအကြား၌ကား အချို့သူတို့သည် ရည်ရွယ်ချက်ကင်းမဲ့စွာ သွားလာလှုပ်ရှားလျက် ရှိကြ၏။ ( သို့ရာတွင် လှုပ်ရှားမြဲဖြစ်၍သာ လှုပ်ရှားနေရသော်လည်း ` အဘယ်ကြောင့် လှုပ်ရှားနေကြသည်ကိုမူ ၎င်းတို့ကိုယ် တိုင် သိဟန်မတူကြချေ။ . ။

မော်စကိုမြို့ကြီး၌ လူသူကင်းမဲ့ကာ ဟာလာ ဟင်းလင်းဖြစ်လျက်ရှိကြောင်း ဖြင့် အရိပ်အခြည်ကို ကြည့် ၍ လျှောက်တင်လိုက်သည့်အခါ၌မူကား နပိုလီယန်သည် လျှောက်တင်သူကို ဒေါသအမျက်ခြောင်းခြောင်းထွက် လျက် ကြည့်လိုက်ပြီး ချာခနဲလှည့်သွားကာ ခေါက်တုံ့ ခေါက်ပြန် လမ်းလျှောက်မြဲ လမ်းလျှောက်နေပေသည်။

"ကရထား ပြင်ကြ၊ ကရထား" နပိုလီယန်က ဆို၏။

နဗိုလီယန်သည် တာဝန်ကျကိုယ်ရံတော်ဘေးတွင် ဝင်ထိုင်လိုက်ပြီး မော်စကိုဆင်ခြေဖုံးသို့ ဝင်လာခဲ့၏။

"အိမ်း၊ မော်စကို ကို စွန့်ပြေးကြပြီ။ ယုံနိုင်စရာ မရှိတဲ့ အဖြစ်ကြီးပါလား ကွယ်တို့။ ယုံနိုင်စရာမရှိတဲ့ ( အဖြစ်အပျက်ကြီးပါကလား"

နပိုလီယန်သည် မြို့လယ်အထိ မဝင်ချေ။ ဒိုဂို မီလော့ဆင်ခြေဖုံးရပ်ကွက်သို့ ရောက်လျှင် တည်းခိုဂေဟာ ငယ်တစ်ခု၌ တည်းခိုခြင်း ပြုလေသည်။

ဇာတ်ပွဲကြီးကား မစသေးချေ။

# အခန်း ၂၁

ရုရှားတပ်များသည် သန်းခေါင်ကျော် နှစ်ချက်တီးအချိန်မှ စပြီး နောက်တစ်နေ့ မွန်းလွဲ နှစ်ချက်တီးအထိ မော်စကို မြို့ကိုဖြတ်၍ ဆုတ်ခွာလျက် ရှိကြ၏။ ဒဏ်ရာရသူများနှင့် မြို့မှ ထွက်ပြေးကြသူများကိုလည်း ၎င်းတို့နှင့်အတူ ခေါ်ဆောင်သွားကြလေသည်။

တပ်များဖြတ်သန်းစဉ်အတွင်း ကျောက်တံတား၊ မော့စကာဗာတံတားနှင့် ယောဇတံတားတို့တွင် ကြိတ် ကြိတ်တိုးလျက်ရှိလေသည်။

စစ်တပ်များသည် ကရင်မလင်နန်းတော်အနီးမှ နှစ်စုခွဲ၍ ဖြတ်သန်းလာခဲ့ရာ တစ်စုမှာ ကျောက်တံတား ထိပ်နှင့် မော့စကာဗာတံတားထိပ်တွင် စုပြုံတိုးဝှေ့လျက် ရှိ၏။ ရှေ့တွင် တိုးမပေါက်အောင် ပြုတ်ကျပ်နေသော အခါ၌ များစွာသော တပ်သားများသည် တံတားထိပ်မှ ပြန်လှည့်လာခဲ့ကြပြီးနောက် ရင်ပြင်နီရှိ ဗာစီလီ သုခမ္မာ ဇရပ်ထဲသို့ လည်းကောင်း၊ ရင်ပြင်နီနောက်ဖေး ဗိုရိုဗစ်စကီ နန်းမြို့ရိုး တံခါးအနီးသို့ လည်းကောင်း တိတ်တဆိတ် ရောက် လာကြသည်။ ၎င်းတို့ ရောက်လာခြင်းမှာကား ၎င်းတို့ ပိုင်ဆိုင်ခြင်းမရှိသော ပစ္စည်းကိုယူရန်အတွက် ၎င်းတို့၏ ပကတိစိတ်၏စေခိုင်းချက်အရ ရောက်လာခဲ့ကြ ခြင်းဖြစ်လေသည်။

အပေါ်စားပစ္စည်းများကို ရောင်းသည့် ဈေးများ၌ တွေ့ရသော စုတ်စုတ်ပေပေ လူများမှာလည်း ဈေးကြီး တစ်ခုလုံးပြည့်ကျပ်လျက် ရှိလေသည်။ သို့ရာတွင် ဈေးဝယ်သူများအား ဝယ်ပါယူပါ တစာစာဖြင့် ဟစ်အော် ရောင်းချတတ်သော ဈေးသည်များကိုကား တစ်ယောက်မျှ မတွေ့ရ ချေ။ ပခုံးထမ်းဈေးသည်များ၊ ဈေးသို့လာနေကြ ဈေးဝယ်သူ အိမ်ရှင်မများကိုလည်း မမြင်ရချေ။ ကြည့် လိုက်တိုင်း စစ်ဝတ်စုံများ၊ စစ်ဝတ်ရုံအင်္ကျီရှည်များကို ဝတ်ထားသည့် စစ်သားများသည် ဈေးထဲသို့ လူလွတ်ဝင် သွားကြကာ အထုပ်အပိုးများကို သယ်၍ လမ်းကြိုလမ်း ကြားများမှ တိတ်တဆိတ် ထွက်လာကြခြင်းကိုသာ မြင်ရ၏။ ချိတ်ကုန်တိုက် ကုန်ရောင်းသောဆိုင်ကြီးများမှ ပိုင်ရှင်များနှင့် စာရေးများသည် (၎င်းတို့၏အရေအတွက်မှာ နည်းပါးသည်။) စစ်သားများအလယ်၌ မျက်နှာငယ်ကလေးများဖြင့် သွားလာနေကြ၏။ ၎င်းတို့ကိုယ်တိုင်မှာ လည်း ၎င်းတို့ပိုင်ကုန်တိုက်ကြီးများကိုဖွင့်၍ စာရေးများ၏ အကူအညီဖြင့် ပစ္စည်းများကို သယ်ဆောင်သွားကြ၏။ ဈေးရှေ့ကွက် လပ်ထဲ၌ကား ဘင်ခရာတီးဝိုင်းမှ တပ်သားများသည် ဘင်များကို တဒိုင်းဒိုင်းတီး၍ တပ်သားများကို ပြန်ခေါ် နေကြသည်။ သို့ရာတွင် ဘင်ခရာသံများသည် ဈေးထဲသို့ ဝင်ရောက်လုယက်လျက်ရှိသော တပ်သားများ အား ၎င်းတို့ရှိရာသို့ ပြန်လာအောင် ခေါ်နိုင်စွမ်းမရှိကြ တော့ဘဲ၊ လွတ်ရာကျွတ်ရာသို့ မောင်းလွှတ်နေသကဲ့သို့သာ ရှိတော့သည်။ ဆိုင်များနှင့် လမ်းကြိုလမ်းကြားများထဲ၌ စစ်သားများအပြင် ခေါင်းတုံးရိတ်ထားသော အင်္ကျီအပြာနှင့်   လူများကိုလည်း မြင်ရ၏။ (၎င်းတို့မှာ ထောင်ဖွင့်လွှတ် လိုက်သဖြင့် ထောင်မှလွတ်လာသော အကျဉ်းသားများ ဖြစ် သည်။) သေးကွေးကြုံလှီ၍ အမွေးအတောင် မွဲခြောက် ခြောက်ရှိသော မြင်းပိန်ကလေးကို စီးထားလျက် စစ်ဝတ်စုံ ပေါ်တွင် လည်စည်းထပ်စည်းထားသည့် တပ်ဗိုလ် တစ် ယောက်နှင့် စစ်ဝတ်ရုံအင်္ကျီကြီးကို ဝတ်ကာ ခြေလျင် လျှောက်နေသော တပ်ဗိုလ်တစ်ယောက်

တို့သည် အီလျင် ကာလမ်းထောင့်တွင် ရပ်၍ စကားပြောနေကြ၏။ အခြား တပ်ဗိုလ်တစ်ယောက်သည် ၎င်းတို့အနီးသို့မြင်းကို ဒုန်းစီး၍ ရောက်လာသည်။

"ငါ တပ်သားတွေကို ဒီနေရာက ချက်ချင်း မောင်းထုတ်ပစ်ရမယ်လို့ ဗိုလ်ချုပ်ကြီးက အမိန့်ပေးလိုက် တယ်၊ ဒီလို လက်ပိုက်ကြည့်နေလို့ ဖြစ်မလားဗျ။ တပ်သား တွေလဲ တကွဲတပြား ဖြစ်ကုန်ပြီ"

"ဟော့ မအေပေးတွေ၊ ဘယ်သွားမလို့လဲဟင်။ ဘယ်လဲ။ ရပ်၊ ခုရပ်" မြင်းပေါ်မှ တပ်ဗိုလ်သည် သေ နတ်မပါဘဲ စစ်သားဝတ်ရုံအင်္ကျီကြီးများကို မ၍ ဈေးကြားထဲသို့ ဝင်မည်ပြုနေသော ခြေလျင်တပ်သားသုံးဦးအား လှမ်းအော်လိုက်သည်။

"မတတ်နိုင်ဘူးဗျ။ ကျုပ်တို့လဲ ဒီအတိုင်း ကြည့်နေ ရတာပဲ၊ ဒီနားမှာ ဝဲလည်ဝဲလည် လုပ်မနေစေချင်ရင် ရှေ့ကတပ်တွေက တံတားကို မြန်မြန်ပြီးအောင် ကူးကြ ရုံရှိတာပဲ" တပ်ဗိုလ်တစ်ဦးက ပြောသည်။

"ဘယ့်နှယ်လုပ်ပြီး မြန်မြန်ပြီးအောင်ကူးလို့ ဖြစ်မလဲဗျ။ တံတားအလယ်မှာ ပွတ်သိပ်ပြီး ရှေ့တိုးလို့ မရ၊ နောက်ဆုတ်လို့ မရဖြစ်နေတယ်။ ဒီမှာ၊ ဒီတပ်သား တွေ ထွက်မပြေးအောင် ကျုပ်တို့ လမ်းတွေကို အကုန် ပိတ်ပြီး ကင်းချထားရင် ဘယ့်နှယ်လဲ"

"ကဲဗျာ ပြောနေကြာတယ်။ လာ ဒီကောင်တွေ အကုန်ပိတ်ဖမ်းမယ်" ရာထူးကြီးသော တပ်ဗိုလ်က ဆို၏။

စစ်ဝတ်စုံပေါ်တွင် လည်စည်းစည်းထားသည့် တပ် ဗိုလ်သည် ၎င်း၏မြင်းပိန်ခြောက်ကလေးပေါ်မှ ဆင်းပြီး ဘင်သမားတစ်ယောက်ကို ခေါ်ကာ ဈေးကွက်ထဲသို့ ဝင် သွား၏။ အချို့တပ်သားများမှာ အုပ်လိုက်ထွက်ပြေးကြ သည်။ ပါးတွင် ဝက်ခြံထူလပျစ်ပေါက်ကာ သေးသွယ် ရှည်လျားသောမျက်နှာပေါ်၌ ဇယားစေ့

သောအမူအရာမျိုး ကို ဆောင်ထားသည့် စျေးသည်တစ်ယောက်သည် လက်ပြ ၍ တပ်ဗိုလ်ထံ ပြေးထွက်လာ၏။

"ဗိုလ်လေး၊ ကျွန်တော်တို့ကို ကယ်ပါဦး၊ ပစ် မထားပါနဲ့၊ ဗိုလ်လေးလိုချင်ရင် ကျွန်တော် အဝတ်တစ်စ ပြေးယူလိုက်ပါမယ်။ နှစ်စလိုချင်လဲ နှစ်စ ရပါ့မယ်။ ကျွန်တော်တို့ကိုတော့ ပစ်မထားပါနဲ့၊ တပ်သားတွေ အကုန်ဝင်လုကုန်ပါပြီ။ ဗိုလ်လေးတို့က အစောင့်ချမပေး နိုင်ဘူးဆိုရင်လဲ ဆိုင်ပိတ်လို့ရအောင် တပ်သားတွေကို နှင်ထုတ်ပေးပါ"

ခဏကြာလျှင် တပ်ဗိုလ်အနီးသို့ စျေးသည်များ ဝိုင်းအုံရောက်လာကြ၏။

"ဒီလောက်လဲ တွေးပူမနေကြနဲ့ဗျ။ ခေါင်းဖြတ် ခံရပြီးမှ ဆံပင်နှမြောနေလို့ ဖြစ်ဦးမတဲ့လား။ ကျုပ်တို့ တော့ မတားဘူး။ ကြိုက်ရာ ယူကြပစေ"

ခပ်ပိန်ပိန် မျက်နှာထားဆိုးဆိုးနှင့် လူတစ်ယောက် က ပြော၏။

"အေး၊ ပြောပေါ့ ဗျာ။ ခင်ဗျားက လူလွတ်ကိုး။ ဗိုလ်လေး တပ်သားတွေကို နှင်ပေးပါဦး" ပထမကုန်တိုက် ပိုင်ရှင်က ဆို၏။

"ဘယ်က လူလွတ်ရမှာလဲဗျ။ ကျုပ်ဆိုင်သုံးဆိုင် ထဲမှာ ကုန်တစ်သိန်းဖိုး ရှိတယ်ဗျ။ သိရဲ့လား။ စစ်တပ် ဆုတ်သွားပြီး အစိုးရမရှိတဲ့နောက်မှာ သေ့ခတ်ထားလို့ ကော လုံခြုံမှာတဲ့လား။ တော်တော်ခက်ဦးမယ့်လူတွေပဲ။ ဘုရားသခင်ရဲ့ အားကို လူသား မဖီဆန်သာဘူးဗျ။ သိရဲ့ လား"

"ဗိုလ်လေး။ ဆိုင်ထဲ ကြွပါဦးဗျ" ပထမ ကုန် တိုက်ပိုင်ရှင်က ဖိတ်ခေါ်၏။

တပ်ဗိုလ်ကလေးသည် ဝေခွဲမရသောမျက်နှာဖြင့် ရပ်နေ၏။

“ဒါ ကျွန်တော့်တာဝန် မဟုတ်ဘူးဗျ” တပ်ဗိုလ် သည် တစ်ခွန်းတည်း ခပ်ပြတ်ပြတ်ပြောကာ ဈေးလမ်း ကြားတစ်ခုထဲသို့ ဝင်လာခဲ့၏။

တံခါးပွင့်လျက်ရှိသော ဆိုင်တစ်ဆိုင်ထဲမှ ရိုက်ပုတ် သံ၊ ဆဲသံများ ကြားရ၏။ တပ်ဗိုလ်သည် ထိုဆိုင်ဘက် သို့ လျှောက်လာခဲ့၏။ ဆိုင်ဝသို့အရောက် အင်္ကျီပြာခေါင်း တုံးပြောင်ပြောင်နှင့် လူတစ်ယောက်သည် ဆိုင်ပြင်သို့ ဗုန်းခနဲလွင့်ကျလာ၏။ . သို့ရာတွင် ချက်ချင်းပင် တပ်ဗိုလ်၏အနီးမှ ထ၍ ထွက်ပြေးလေသည်။ တပ်ဗိုလ်သည် ဆိုင်ထဲသို့ ဝင်လာကာ တပ်သားများအား လက်ထဲတွင်ပါလာသည့် တုတ်ဖြင့် သိမ်းရိုက်ပြီး အပြင်သို့ မောင်းထုတ်နေသည်။ ထိုအခိုက် မော့စကာဗာမြစ်တံတားပေါ်မှ ထိတ်လန့်စဖွယ် ငယ်သံ ပါအောင် စူးစူးဝါးဝါးအော်သံများကို ကြားလိုက်ရသဖြင့် တပ်ဗိုလ်သည် ဆိုင်ပြင်သို့ ပြေးထွက်လာခဲ့သည်။

“ဗိုလ်လေး ဘာဖြစ်တာလဲဗျ။ ဘာဖြစ်တာလဲ” တပ်ဗိုလ်ကလေးသည် ၎င်း၏ရဲဘော်တပ်ဗိုလ်ကလေး တစ်ဦးကို လှမ်း၍ မေး၏။ သို့ရာတွင် ထိုတပ်ဗိုလ်ကလေး မှာ ဗာစီလီသုခမ္မာဇရပ်အနီးမှ ဖြတ်၍ အော်သံထွက်ပေါ် လာရာ တံတားဘက်သို့ ဒုန်းစိုင်းသွားလေပြီ။

တပ်ဗိုလ်ကလေးသည် ၎င်း၏ မြင်းပိန်ခြောက် ကလေးပေါ်သို့ တက်စီးပြီး တံတားဆီသို့ ထွက်လာခဲ့၏။ တံတားသို့ရောက်သောအခါတွင် ခင်တိတ်ဖြုတ်ထားသော မြောက်ကြီးနှစ်လက်၊ တံတားကိုဖြတ်လျက်ရှိသော ခြေလျင် တပ်သားများ၊ ကျွမ်းထိုးမှောက်ခုံဖြစ်လျက်ရှိသော လှည်း များနှင့် ငိုအားထက် ရယ်အားသန်ဆိုသကဲ့သို့ ရယ်မော လျက်ရှိသော တပ်သားများကို တွေ့ရ၏။ အမြောက် မြ ( တပူကြီးတစ်လက်၏အနီးတွင် မြင်းနှစ်ကောင်တပ် လှည်း တစ်စီး ရပ်လျက်ရှိ၍ လည်ပတ်တပ်ထားသော တောခွေး ဝံပုလွေကြီး လေးကောင်မှာ လှည်းဘီးအနီးတွင် ကြောက် လန့်တကြား ကပ်နေကြ၏။ လှည်းမှာ ဝန်စည်အပြည့် တင်ထား

လျက် ဝန်စည်များထိပ်တွင် ကလေးစီးလက်တွန်း လှည်းကလေးတစ်စီးကို ပက်လက်ထောင်ထား၍။ကလေး စီးလှည်းဘေးတွင်မူ မိန်းမကြီးတစ်ယောက် ထိုင်၍ စူးစူး ဝါးဝါးအော်ဟစ်ငိုယိုလျက် ရှိလေသည်။ အကြောင်းကို စုံစမ်းကြည့်ရာ ဗိုလ်ချုပ်ကြီးအာမိုလော့ဗ် ရောက်လာ၍ အရပ်သား စစ်ပြေးဒုက္ခိတတို့၏လှည်းများကလည်းတံတား ထိပ်တွင် ပိတ်ဆို့နေခြင်း၊ တပ်သားများ အကွဲကွဲအပြား ပြားဖြစ်ကာ ဈေးဆိုင်များကို ဝင်လုနေခြင်းစသည်တို့ကို သိရသည်ကြောင့် အမြောက်နှစ်လက်ကို ခင်တိတ်မှ အဖြုတ်ခိုင်းပြီး တံတားဆီသို့ပစ်ရန် ချိန်ရွယ်စေကြောင်း၊ ဤတွင် တံတားပေါ်၌ ပြွတ်သိပ်တိုးဝှေ့နေသည့် လူအုပ် ကြီးမှာ ကြောက်လန့်တကြား တိုးဝှေ့ထွက်ပြေးကြသဖြင့် လဲသူလဲ၊ ကွဲသူကွဲဖြစ်ကာ လှည်းတွေ မှောက်ကုန်ကြောင်း၊ ထို့ကြောင့် ကြောက်လန့်တကြားအော်ဟစ်ကြခြင်း ဖြစ် ကြောင်း၊ ယခုမှ တံတားပေါ်တွင် ရှင်းသွားပြီဖြစ်၍ တပ်များ ဖြတ်ကူးကာ ရှေ့သို့ ချီတက်နိုင်တော့ကြောင်းဖြစ်၍ သိရလေသည်။

# အခန်း ၂၂

ထိုအတောအတွင်း၌ မော်စကိုမြို့ကြီးသည် တိတ်ဆိတ် ခြောက်ကပ်လျက် ရှိလေသည်။ လမ်းများပေါ်တွင် လူ တစ်ယောက်မျှ မရှိတော့ချေ။ ဝင်းတံခါးများ နှင့် ဈေးဆိုင် များမှာ ပိတ်ထားကြ၏။ အချို့ဘုံဆိုင်များဆီမှ အရက်မူး မူးဖြင့် သီချင်းဆိုသံများ၊ အော်ဟစ်ပြောဆိုသံများကို ကြားရ၏။ ပိုဗာစကားယားလမ်း ကြီးမှာလည်း ခြောက်သွေ့ တိတ်ဆိတ်လျက် ရှိလေသည်။ မြို့စားကြီး ရော့စတော့ ဗ်၏ စံအိမ်ဝင်းထဲတွင်ကား ကောက်ရိုးမျှင်များ၊ မြင်းချေးများ ပြန့်ကျဲလျက် ရှိ၏။ လူသူအရိပ်အယောင်ကို မမြင်ရချေ။ ပစ္စည်းများအပြည့်ဖြင့် ခြေရာလက်ရာမပျက် ရှိနေသော ဧည့်ခန်းဆောင်ကြီးထဲတွင် လူနှစ်ယောက် ရှိ၏။ ၎င်းတို့ ကား ဥယျာဉ် စောင့်အိုကြီးနှင့် အစေတော်သူငယ်ကလေး မီရှကာတို့ ဖြစ်၏။ မီရှကာမှာ လက်စွဲတော်ကျွန်ယုံကြီး ဗာစီလစ်၏မြေးဖြစ်၍ ၎င်း၏အဘိုးနှင့်အတူ မော်စကို တွင် ကျန်ရစ်ခဲ့ခြင်း ဖြစ်လေသည်။ မီကာသည် ရှေး စန္ဒရားကြီးကိုဖွင့်ကာ လက်ညှိုးဖြင့် တဒေါင်ဒေါင် တီး နေ၏။ ဥယျာဉ်စောင့် အိုကြီးသည် လက်နှစ် ဖက်ကို ဆန့်၍ ကြီးမားသောကိုယ်လုံးပေါ်မှန်ကြီးရှေ့တွင် ပြုံးပြုံး ကြီး ရပ်လျက် ရှိ၏။

"ဦးလေး၊ ကျွန်တော်တို့တော့ ဗိုမ်ပဲဗျ။ ဟဲ ဟဲ" မီရှကာသည် အိုကြီးကို လှမ်းပြောလိုက်ပြီး လက်နှစ် ဖက်ဖြင့် ရှေးစန္ဒရားကြီးကို စုံတီးချလိုက်သည်။

"ဟဲ ဟဲ ဗိုမ်ကျတာတော့ မပြောနဲ့ဟေ့" အိုကြီး က လှမ်းပြောလိုက်ပြီး ပါး စို့ကြီးများကို ချွန်တက်လာ အောင် ပြုံးလိုက်ရင်း မှန်ကြည့်နေသည်။

"အလိုလေးတော်။ ဒါ နင်တို့နဲ့ ဘာဆိုင်လို့ လဲဟင်" ဧည့်ခန်းဆောင်ကြီးထဲသို့ တိတ်တဆိတ်ဝင်လာ သော အိမ်ထောင်ထိန်း မိန်းမကြီး မက်ဗရာက အော်လိုက်   ၏။ "ဟိုသေနာကောင်က မှန်ကြီးကြည့်ပြီး သွားပြီးပြ နေလိုက်သေးတယ်၊ ဒါ နင်တို့နေရာလား ဟင်။ အောက် မှာ ဘာပစ္စည်းမှ မသိမ်းရသေးဘူး။ ဗာစီလစ် ဖြင့် ဖတ် ဖတ် မောနေပြီ။ သွား ကူလုပ်ကြဦး"

အိညက်သည် ခါးပတ်ကို ပြင်ပတ်၍ ရယ်ကျဲကျဲ ဖြင့် အခန်းပြင်ဘက်သို့ ထွက်သွားသည်။

"အသာလေး တီးတာပါ ကြီးတော်ရဲ့" မီရှကာ က ဆို၏။

"အသာလေးတီးတယ်ဆိုရင် နင့်ထိပ်ကိုလဲ ငါ အသာလေးခေါက်ပြမယ် မျောက်ကလေး။ သွား၊ နင့်အဘိုး ဖို့ လက်ဖက်ရည် သွားတည်ချေဦး" မက်ဗရာက လက်ကို မြှောက်၍ ခေါင်းခေါက်မည် ပြုလိုက်သည်။

မက်ဗရာသည် ရေးစန္ဒရားကြီးပေါ်မှ ဖုန်များကို သုတ်လိုက်ပြီး အဖုံးကို ပိတ်လိုက်၏။ ထို့နောက် သက်ပြင်း ကြီးတစ်ချက်ချကာ တံခါးမကြီးကို သော့ခတ်၍ ထွက် လာခဲ့သည်။

မက်ဗရာသည် ဝင်းထဲသို့ ထွက်လာခဲ့ပြီး ဗာစီလစ် နှင့် အတူ လက်ဖက်ရည် သောက်ရမည်လော၊ ပစ္စည်းသို လှောင်ခန်းထဲ ဝင်၍ ပစ္စည်းများကို သိမ်းရမည် လောဟု ဝေခွဲမရဘဲ စဉ်းစားနေသည်။

ထိုအခိုက် တိတ်ဆိတ်လျက်ရှိသော လမ်းမကြီး ပေါ်မှ တဘုတ်ဘုတ်ပြေး လာသော ဖိနပ်သံများကို ကြား ရ၏။ ဖိနပ်သံများသည် ဝင်းဝတွင် ရပ်သွား၏။ ဝင်းတံခါး ကို တွန်းဖွင့်နေသံကိုလည်း ကြားရသည်။

မက်ဗရာသည် ဝင်းတံခါးဆီသို့ လာခဲ့၏။ "ဘယ်သူ့ကို တွေ့ချင်လို့လဲ"

“မြို့စားကြီးကို တွေ့ချင်လို့ပါ။ မြို့စားကြီး ရှော့စတော့ဗ်”

“ဘယ်သူလဲ”

“ကျွန်တော် တပ်ဗိုလ်တစ်ယောက်ပါခင်ဗျား။ မြို့စားကြီးနဲ့ တွေ့စရာကိစ္စ လေးတစ်ခု ရှိလို့ပါ” ယဉ်ကျေး သိမ်မွေ့သောအသံတစ်သံက ပြော၏။

မက်ဗရာသည် ဝင်းတံခါးမကြီးကို ဖွင့်လိုက်၏။ မြို့စားကြီး ရှော့စတော့ဗ် ကဲ့သို့ မျက်နှာဝိုင်းဝိုင်း၊ အသက် ဆယ့်ရှစ်နှစ်ခန့်ရှိ တပ်ဗိုလ်ကလေးတစ်ဦးသည် ဝင်းထဲ . သို့ ဝင်လာ၏။ တပ်ဗိုလ်ကလေးသည် ဝင်းထဲသို့ ဝင်ရ ကောင်းမည်လော ဟု ဝေခွဲမရသည့်လက္ခဏာဖြင့် ရပ်၍ လျှာကို အောက်နှုတ်ခမ်းနှင့် တို့ကာ ကလစ် ကလစ်မြည် အောင် ပြုနေ၏။

“သခင်ကြီးဘုရားတို့ ပြောင်းသွားကြပြီ ဗိုလ်လေး ရဲ့။ မနေ့မနက် ဝတ်တက် ချိန်လောက်ကဘဲ ထွက်သွား ကြပြီ” မက်ဗရာက ဖြေ၏။

“အား၊ ခွကျတာပဲဗျာ။ ကျွန်တော် မနေ့က လာ လိုက်ရင် မိမှာ။ ခုတော့ ဒုက္ခ ပဲ”

ဇက်ဗရာသည် တပ်ဗိုလ်ကလေး၏မျက်နှာပေါ်မှ မြို့စားကြီး ရှော့စတော့ဗ် နှင့် ခပ်ဆင်ဆင်ရှိသောသွင်ပြင် လက္ခဏာများကို စူးစိုက်အကဲခတ်နေ၏။ တပ် ဗိုလ်ကလေး ၏ အပေါ်ရုံအင်္ကျီသည် စုတ်ပြကာ ဖိနပ်များလည်း ပေါက်ပြဲလျက် ရှိ၏။

“သခင်ကြီးဘုရားကို ဘာကိစ္စ တွေ့ချင်လို့လဲ ဗိုလ်လေး”

“အေးဗျာ၊ ကိစ္စမရှိပါဘူး။ နေပါစေတော့” တပ် ဗိုလ်ကလေးသည် စိတ်ပျက် လက်ပျက်ဖြင့် ပြောလိုက် ပြီးနောက် ဝင်းတံခါးပေါင်ကို ကိုင်ကာ ပြန်ထွက်ရန် . ဟန်ပြင်လိုက်သည်။

တစ်ဖန် ဝေခွဲမရသော အမူအရာဖြင့် ရပ်နေပြန် သည်။

"ကျွန်တော်က မြို့စားကြီးရဲ့ တူပါ။ ဦးရီးတော် မြို့စားကြီးက ကျွန်တော့်ကို တော်တော်လေးချစ်ပါတယ်။ ခု ကျွန်တော့်(တပ်ဗိုလ်ကလေးသည် စုတ်ပြဲနေသော အင်္ကျီ နှင့် ဖိနပ်ကိုငုံ့၍ ခပ်ပြုံးပြုံးကြည့်လိုက်ပြီးနောက်) ကျွန်တော့် အဝတ်အစား တွေ စုတ်ပြဲနေလို့ ဝယ်စရာလဲ ပိုက်ဆံမရှိ တော့ဘူး။ ဒါကြောင့် ဦးရီးတော်ဆီက ပိုက်ဆံလေး ဘာလေး"

မက်ဗရာက တပ်ဗိုလ်ကလေး၏ စကားအဆုံးကို မစောင့်တော့ဘဲ ပြော လိုက်သည်။

"အို ဖြစ်မှ ဖြစ်ရလေ ဗိုလ်လေးရယ်။ ခဏလေး နေဦးနော်" မက်ဗရာသည် ဇရာဖိစီးစပြုလေပြီဖြစ်သော ခန္ဓာကိုယ်ကို အိုမင်းစ ပြုပြီဖြစ်သော ခြေထောက် များဖြင့် သယ်ဆောင်ကာ နောက်ဖေးတန်းလျားဆီသို့ ခပ်သုတ် • သုတ် ထွက်လာ ခဲ့၏။

နောက်ဖေးတန်းလျားရှိ ၎င်း၏အခန်းသို့ မက်ဗရာ  ပြန်သွားစဉ်၌ တပ်ဗိုလ် ကလေးသည် ပေါက်ပြဲနေသော ( သူ၏ဖိနပ်များကိုငုံ့ကြည့်၍ စံအိမ်ဝင်းထဲသို့ လမ်းလျှောက် နေသည်။

"ဦးရီးတော်ကို မတွေ့ရတာ နာသကွာ။ အဘွားကြီး ကတော့ သဘောကောင်းရှာသားပဲ။ ဘယ်များ ထွက်သွား တာပါလိမ့်။ တပ်ကိုမီအောင် ဘယ်လမ်းက လိုက်ရမလဲ တောင် မသိပါဘူး။ ခုဆိုရင် ငါ့တပ်ရင်းဟာ ရိုဂိုစကီ တံခါးနားတော့ ရောက်လောက်ရှော့မယ်" ။

တပ်ဗိုလ်ကလေးသည် တွေးနေ၏။ ထိုအခိုက် မက်ဗရာသည် လက်ထဲတွင် လက်ကိုင်ပဝါတစ်ထည်ကို လိပ်ကိုင်ကာ အိမ်နောက်မှ ပေါ်လာ၏။ မက်ဗရာ၏

အမှုအရာမှာ ကြောက်ရွံ့ဟန်ရှိသော်လည်း ပြတ်သားသော အသွင်ကို ဆောင် လျက် ရှိ၏။ အနီးသို့ ရောက်သော် မက် ဗရာသည် လက်ကိုင်ပဝါကို ဖြေ၍ ငွေ ဒင်္ဂါးနှစ်ဆယ့်ငါး ပြားတန်တစ်ရွက်ကို လှမ်းပေးလိုက်သည်။

"သခင်ကြီး ဘုရားသာရှိရင်တော့ ဒီထက်မက ပေးမှာပဲ ဗိုလ်လေး။ ဒါပေမဲ့"

မက်ဗရာက မရဲတရဲဖြင့် လှမ်းပေးလိုက်သည်။ တပ်ဗိုလ်ကလေးသည် ငြင်းပယ်ခြင်း မပြုဘဲ ငွေစက္ကူကို လှမ်းယူလိုက်ပြီး မက်ဗရာကို ကျေးဇူးစကား ဆို၏။

"သခင်ကြီးဘုရားသာ ရှိရင်တော့" မက်ဗရာက အားနာသော လေသံဖြင့် ပြော၏။ "ကဲ ဗိုလ်လေး သွား ပေတော့၊ ဘေးမသီ ရန်မခ ချောချောမောမော ရှိပါစေ တော်။ ဘုရားသခင်ကိုယ်တော်မြတ်ကြီး စောင်မတော် မူပါစေ"

မက်ဗရာသည် တပ်ဗိုလ်ကလေးကို ဦးညွှတ်၍ နှုတ်ဆက်၏။

တပ်ဗိုလ်ကလေးသည် ခေါင်းကိုယမ်းကာ မိမိ အဖြစ်ကို မိမိ ရယ်ချင် သကဲ့သို့ ပြုံးလိုက်ပြီး ၎င်း၏တပ် ရင်းကို အမီလိုက်ရန်အတွက် ယောဇတံတား ဘက်ဆီသို့ တိတ်ဆိတ်ခြောက်သွေ့သော လမ်းမကြီးအတိုင်း ခပ်သုတ် သုတ် ပြေး ထွက်သွားလေသည်။

မက်ဗရာသည် ဝင်းတံခါးကို ပိတ်ကာ ထိုနေရာ တွင် အတန်ကြာမျှ ရပ်နေ မိသည်။ ၎င်း၏မျက်လုံးများတွင် မျက်ရည်များ ဝိုင်းလျက် ရှိ၏။ အမည်မသိ တပ် ဗိုလ် ကလေးအား သားရင်းပမာသနားကြင်နာသည့်စိတ်တို့ သည် ရင်ဝယ် တဖွား ဖွားပေါ်လာကြ၏။ ထို့နောက် မက်ဗရာသည်" ခေါင်းကို ဖြည်းညင်းစွာ ယမ်းနေမိ လေ သတည်း။

# အခန်း ၂၃

မော်စကိုမြို့ထဲရှိ ဗာဗာရကာ မြစ်ကမ်း၌ ဆောက်လက်စ အိမ်တစ်လုံး ရှိ၏။ ထိုအိမ်အောက်ထပ်မှာ အရက်ဆိုင် ဖြစ်လေသည်။ အရက်ဆိုင်ထဲ၌ အရက်မူးမူးဖြင့် အော်ဟစ် နေသံများ၊ သီချင်းဆိုသံများသည် ဆူညံလျက်ရှိ၏။ ညစ်ပတ်ပေရေသော အရက်ဆိုင်အခန်းကလေးတစ်ခုထဲ၌ ကား အလုပ်သမားဆယ်ယောက်ခန့် ထိုင်၍ အရက်သောက် လျက်ရှိကြသည်။ ၎င်းတို့၏မျက်နှာများသည် ချွေးအလိမ်းလိမ်း ကပ်လျက်ရှိ၍ မျက်လုံးများသည် ရီဝေလျက်ရှိကြ ၏။ ၎င်းတို့သည် ပါးစပ်ကြီးများကို အစွမ်းကုန်ဖြဲကာ သီချင်းများကို တစ်ပုဒ်ပြီး တစ်ပုဒ် အော်ဆိုနေကြသည်။ သို့ရာတွင် ညီညီညာညာဆိုခြင်း မဟုတ်။ တစ်ယောက်တစ် ပေါက်စိတ်ကူးတည့်ရာကို အော်ဆိုနေကြခြင်းဖြစ်၏။ သီချင်းဆိုချင်၍ ဆိုနေကြခြင်းမဟုတ်ဘဲ၊ အရက်၏အရှိန် ကြောင့် အူမြူးကာ တွေ့ကရာကို ဆိုနေခြင်းဖြစ်ကြောင်း ၎င်းတို့၏အမူအရာကို ကြည့်ခြင်းဖြင့် သိနိုင်၏။ အရပ် ရှည်ရှည်၊ ဆံပင်ကောင်းကောင်းနှင့် အင်္ကျီပြာကို ဝတ် ထားသောလူငယ်တစ်ယောက်သည် မတ်တတ်ရပ်လျက် ရှိ၏။ ၎င်း၏ဖြောင့်စင်းသောနှာတံသည် မျက်နှာတွင် ထင်းထင်းကြီး ပေါ်လျက် ရှိ၏။ အကယ်၍သာ နှုတ်ခမ်း များက ဤမျှလောက် ပါးလွှာခြင်း၊ ရှုံ့မဲ့ခြင်း၊ ချိုင့်ဝင့်ခြင်း မရှိ၊ မျက်လုံးများကလည်း ဤမျှလောက်ပြူးကျယ်ရီဝေ ခြင်း မရှိပါက ၎င်း၏မျက်နှာမှာ လွန်စွာချောမောခန့်ညား မည့်မျက်နှာမျိုး ဖြစ်၏။ ထိုလူရွယ်သည် ထိုင်၍သီချင်းဆို နေသူများကြား၌ မားမားကြီးရပ်ကာ အင်္ကျီလက်ကို တံ တောင်ဆစ်အထက်ထိ ပင့်တင်လိုက်ပြီး ဖြူဖွေးသော လက်မောင်းကို ဝှေ့ယမ်းကာ ညစ်ပတ်ပေရေသော တော် ချောင်းများကိုလည်း ကွေးချည်ဆန့်ချည် ပြုလျက် ရှိ၏။ အင်္ကျီလက်သည် မကြာခဏ ပြန်ကျလာတတ်၍ ထိုသို့ လျှောကျလာတိုင်းလည်း ဝဲဘက်လက်ဖြင့် အင်္ကျီလက်ကို

မကြာခဏ ပြန်တင်နေတတ်လေရာ ထိုအချိန်၌ အရိုးပေါ် အရေတင်လျက်ရှိသည့် ဖြူရော်သောလက်မောင်းများကို ဟာလာဟင်းလင်းဖြစ်နေစေခြင်းသည် ထို လူရွယ်၏အရေး တကာ အရေးအကြီးဆုံး အလုပ်ကြီး တစ်ခုပေလောဟု ထင်မှတ် ရ၏။ ဤသို့ တစ်ယောက်တစ်ပေါက်အော်ဟစ် ၍ သီချင်းဆိုနေကြစဉ်၌ ဆိုင်ရှေ့ ဆီမှ တအုန်းအုန်း ရိုက်ပုတ်ထိုးကြိတ်သံများကို ကြားရ၏။ အရပ်ရှည်ရှည် နှင့် လူရွယ်သည် လက်ကို ယမ်းပြလိုက်သည်။ .

"ဟေ့၊ အားလုံး တိတ်။ ရှေ့မှာ ပွဲကြီး ပွဲကောင်း ကွ" လူရွယ်သည် ဤသို့ ခပ် ကျယ်ကျယ်ပြောလိုက်ပြီး နောက် လျှောကျလာသောအကျႌလက်ကို ထပ်၍ပင့် တင် ရင်း ဆိုင်ပြင်သို့ ထွက်သွားသည်။

အလုပ်သမားများသည် ၎င်း၏နောက်မှ လိုက် လာကြသည်။ အလုပ်သမား များသည် အရပ်ရှည်ရှည်နှင့် ထိုလူရွယ်ကို ဆရာတင်ကာ တစ်မနက်လုံး အရက် ဆိုင် ထဲတွင် အရက်သောက်နေခဲ့ခြင်း ဖြစ်၏။ အလုပ်သမား များသည် စက်ရုံမှ ပစ္စည်းအချို့ကို ယူလာကြကာ ဘုံဆိုင် ပိုင်ရှင်ကို ပေးကြသည့်အတွက် ဘုံဆိုင် ပိုင်ရှင်က ၎င်းတို့ကို အရက် ပြန်တိုက်ခြင်း ဖြစ်လေသည်။ ဤသို့ဖြင့် ဘုံဆိုင် ထဲ၌ တစ်မနက်လုံး အော်ဟစ်လျက်ရှိကြလေရာ အနီးရှိ ပန်းပဲဖိုတစ်ခုမှ ပန်းပဲသမား များသည် ဘုံဆိုင်ထဲမှ ဆူညံ စွာအော်ဟစ်သံများကို ကြားရသည်၌ ဘုံဆိုင်ကို ဖောက် နေကြပြီဟု ထင်မှတ်လျက် ဘုံဆိုင်ထဲသို့ အတင်းဝင်လာ ကြ၏။ ဤတွင် ဆိုင်ရှေ့၌ ဘုံဆိုင်ပိုင်ရှင်နှင့် ပန်းပဲသမား များ ရန်ဖြစ်ကြလေသည်။

ဘုံဆိုင်ပိုင်ရှင်သည် ရှေ့ဆုံးမှတက်လာသော ပန်းပဲ သမားနှင့် လုံးထွေး သတ်ပုတ်လျက်ရှိ၏။ ပန်းပဲဖိုဘက်မှ နောက်ထပ်ပန်းပဲသမားများ ထွက်လာသည့် အခါ၌ ပန်းပဲ သမားသည် ဘုံဆိုင်ပိုင်ရှင်လက်ထဲမှ အတင်းရုန်းထွက် လိုက်ရာ ကိုင်ရိုက်လိုက်သကဲ့သို့ လမ်းဘေးစကြံပေါ်သို့ မှောက်လျက် လဲကျသွားလေသည်။

အခြားပန်းပဲသမားတစ်ယောက်သည် - ဘုံဆိုင် ပိုင်ရှင်ကို အတင်းတိုးကာ ဆိုင်ထဲသို့ဝင်ရန် ကြိုးစားလျက် ရှိ၏။

“လာကြဟေ့၊ ငါတို့ကို ဝိုင်းရိုက်ကုန်ကြပြီ”

အင်္ကျီလက်ပင့်ထားသည့်လူရွယ်သည် ပန်းပဲသမား ၏မျက်နှာကို တစ်ချက် ဝင်၍ထိုးပြီး အော်လိုက်သည်။

ထိုအခိုက် စကြံပေါ်တွင် လဲကျနေသည့် ပန်းပဲ သမားသည် ထလာကာ စုတ်ပြဲသွားသောမျက်နှာကို သွေးထွက်လာအောင် ကုတ်ပစ်လိုက်ပြီး

”လာကြပါဗျို့၊ ဝိုင်းသတ်နေပါတယ်၊ လာကြပါ။ လူတစ်ယောက် သေပါပြီ”ဟု အော်ပြန်သည်။

“ဘုရား ဘုရား၊ လူသတ်သွားလို့တဲ့ တော်ရေ။ ကယ်တော်မူကြပါ” အနီးရှိ အိမ်တစ်အိမ်မှ မိန်းမတစ် ယောက်ကလည်း သံယောင်လိုက်၍ အော်သည်။

သို့ဖြင့် မျက်နှာတွင် သွေးအလိမ်းလိမ်း ကပ် လျက် ရှိသော ပန်းပဲ သမား၏ဘေးသို့ လူအများ ဝိုင်းအုံ လာကြ၏။

“ဟေ့ကောင်၊ ဒီလောက် လုယူရ တော်ရောပေါ့ ကွ။ လုလဲ လုသေးတယ်။ လူလဲသတ်သေးတယ်ဆိုရင် လွန်လှချည်လား။ ဘာဖြစ်လို့ သတ်ရတာလဲဟင် ခွေးသား” တစ်ယောက်က ဘုံဆိုင်ပိုင်ရှင်ဘက်သို့ လှည့်၍ အော်လိုက်၏။

အရပ်ရှည်ရှည်လူရွယ်သည် မှုန်မွဲ ပြူးကျယ်သော မျက်လုံးကြီးများဖြင့် ပန်းပဲသမားကိုတစ်လှည့်၊ ဘုံဆိုင် ပိုင်ရှင်ကို တစ်လှည့် ကြည့်နေ၏။ ၎င်း၏စိတ်ထဲ၌ မည်သူ့ဘက်က ဝင်သတ်ရမည်နည်းဟု ဝေခွဲမရဖြစ်နေပုံ ရလေသည်။ ထို့နောက် သူသည် ဘုံဆိုင်ပိုင်ရှင်ဘက်သို့ ရုတ်တရက်လှည့်၍

”ဟေး၊ မင်း လူသတ်သမားလားဟင်။ ဟေ့ တို့ လူတွေ လာ လာ။ ဒီကောင်ကို ဝိုင်းဖမ်းကြ”

“ဘာလဲ မင်းက ငါ့ကို ဖမ်းချင်လို့လား၊ ဟုတ် လား” ဘုံဆိုင်ပိုင်ရှင်သည် လူအုပ်ကြီးကိုတိုးဝှေ့ကာ အရပ်ရှည်ရှည်လူရွယ်ရှေ့သို့ ရောက်လာပြီး ခေါင်းမှ ဦးထုပ်ကို ဆွဲချွတ်၍ လွှင့်ပစ်လိုက်၏။

ဘုံဆိုင်ပိုင်ရှင်၏ ရဲတင်းသောအပြုအမူကြောင့် ဘေးမှ အလုပ်သမားများသည် ရှဲသွားကြပြန်သည်။

“ဟေ့ကောင်တွေ၊ ဥပဒေကို ငါ နားလည်တယ် ကွ။ ငါကလဲ မင်းတို့ကို ရဲဗိုလ်ဆီ သွားတိုင်မယ်။ ခု အချိန်မှာ လုရင် ကြီးလေးသောဒဏ်ပေးမယ်လို့ ကြေညာ ထားတာ မင်းတို့သိတယ် မဟုတ်လား”

ဘုံဆိုင်ပိုင်ရှင်သည် ဦးထုပ်ကို ကောက်၍ ဆောင်း လိုက်၏။

”ဟေ့ကောင်တွေ ရဲဌာနကို လိုက်ခဲ့”

ဘုံဆိုင်ပိုင်ရှင်နှင့် အရပ်ရှည်ရှည် လူရွယ်သည် တစ်ယောက်တစ်ပြန်ပြောကာ လမ်းမသို့ ထွက်လာကြ၏။ မျက်နှာတွင် သွေးအလိမ်းလိမ်းကပ်နေသော ပန်းပဲသမား လည်း လိုက်လာလေသည်။ အလုပ်သမားများနှင့် လူအုပ် ကြီးက လည်း တစ်ယောက်တစ်ပေါက်အော်ကာ နောက်မှ ဝိုင်းအုံ လိုက်လာကြလေသည်။

မိုရိုစေကာလမ်းထောင့်ရှိ ဖိနပ်ထောင်တစ်ဦး၏ ဆိုင်ရှေ့၌ကား ဖိနပ်ချုပ်သမားတစ်သိုက်သည် သုန်မှုန် သောမျက်နှာထားဖြင့် ရပ်နေကြ၏။ ၎င်းတို့အားလုံးကား ပိန်ချုံးလျက် ရှိကြ၏။ အင်္ကျီအဝတ်အစားများမှာလည်း စုတ်ပြတ်ညစ်ပေလျက် ရှိလေသည်။

“ခွေးသားကြီး၊ တို့ကို လုပ်ခ ကောင်းကောင်း မပေးဘူး” ပိန်ပိန်ပါးပါး မုတ်ဆိတ်မွေးထူလပျစ်နှင့် ဖိနပ်ချုပ်သမားတစ်ယောက်က ဆို၏။

“ခွေးသားကြီး တို့ကို သွေးစုပ်ပြီးတော့ ခွေးလို ဝက်လို ပစ်ထားတယ်”

လူအုပ်ကြီးနှင့် သွေးအလိမ်းလိမ်းကပ်နေသော ပန်းပဲသမားကို မြင်သည့် အခါတွင် ဖိနပ်ချုပ်သမားများ သည် စကားပြတ်သွားကာ လူအုပ်ကြီးနှင့် ရောနှော လိုက်ပါလာကြလေသည်။

“ဘယ်သွားကြမလို့လဲဗျ”

”ရဲဌာနကိုယ့်၊ ရဲဌာနကို” လူအုပ်ကြီးထဲ၌ မေးသံသံတို့ ဆူညံလျက် ရှိ၏။ လူ အုပ်ကြီးများလာသောအခါ ဘုံဆိုင်ပိုင်ရှင်သည် လူအုပ်ကြားတွင် ကိုယ်ယောင်ဖျောက်၍ နောက်ချန်နေရစ် ခဲ့ပြီး ဘုံဆိုင်သို့ ပြန်လာခဲ့လေသည်။ ' အရပ်ရှည်ရှည်နှင့် လူရွယ်ကား ဘုံဆိုင်ပိုင်ရှင် ပျောက်သွားသည်ကို မသိသေးဘဲ လက်သီးလက်မောင်း တန်း၍ အော်ကျယ်ဟစ်ကျယ် ပြောဆိုလျက်ရှိ၏။ အားလုံး ကလည်း သူ့ကိုပင် ဂရုစိုက်ကြည့်နေကြသည်။ လူအုပ် ကြီးသည် အကျိုးအကြောင်း မေးမြန်းရန်အတွက် ထိုလူရွယ် ၏အနီးတွင် ကြိတ်ကြိတ်တိုး လျက် ရှိ၏။

“မြို့ထဲမှာ အစိုးရ ရှိသေးတယ်ဗျ။ ဒီကောင်က အစိုးရမရှိဘူးထင်ပြီး ရမ်းကားနေတာ။ အစိုးရရှိနေသရွေ့ ဥပဒေကို လိုက်နာရမှာပဲ မဟုတ်ဘူးလားဗျာ။ အစိုးရ  မရှိရင် ကျုပ်တို့ပစ္စည်းတွေကို လုယက်ကုန်တော့မှာပေါ့။ အစိုးရမရှိလို့ ဘယ်ဖြစ်မလဲ”

”ဟော့ကောင် အပိုတွေ ပြောမနေနဲ့ကွ။ မြို့ထဲမှာ အစိုးရ ရှိသေးတယ်။ စစ်တပ်တွေ ဖြတ်နေတာ မမြင်ဘူး လား။ ဟော့ကောင် ငြိမ်၊ နောက်ထပ် မပြောနဲ့”

အချို့ ကလည်း အရပ်ရှည်ရှည်လူရွယ်ကို အော်ကြ၏။

တရုတ်တန်းတံတိုင်းကြီးအနီးသို့ ရောက်သော အခါ ခါးတ အင်္ကျီဝတ်လျက် လက်ထဲတွင် စာရွက်တစ် ရွက်ကိုင်ထားသည့် လူတစ်ယောက်အနီး၌ ဝိုင်းနေကြသော လူတစ်စုကို တွေ့ရ၏။

"ဟော့ အမိန့်ကြော်ငြာစာ ထုတ်နေတယ်ကွ။ ကြော်ငြာစာထုတ်နေတယ်" ။

လူအုပ်ကြီးသည် အမိန့်ကြော်ငြာစာကိုဖတ်လျက် ရှိသူအနီးသို့ ဝိုင်းအုံလာသည်။

ခါးတို အင်္ကျီဝတ်ထားသူသည် ဩဂုတ်လ ၃ ရက်နေ့ကထုတ်ပြန်သော မြို့ဝန်ရှော့စတော့ချင်၏အမိန့် စာကို ဖတ်နေသည်။ အနားသို့ လူအုပ်ကြီးဝိုင်းလာသော အခါ ထိုလူသည် စိတ်ရှုပ်သွားဟန်ဖြင့် ရပ်လိုက်၏။ အရပ်ရှည်ရှည်လူရွယ်က ရှေ့သို့တိုးလာပြီး အတင်းအဖတ် ခိုင်းသည်တွင် အမိန့်ကြော်ငြာစာကို အသံတုန်တုန်ဖြင့် အစအဆုံး ပြန်ဖတ်နေသည်။

"နံနက်ဖြန် နံနက်စောစောတွင် မော်စကိုမြို့ဝန် ကျွန်ုပ်မြို့စားကြီးရှော့စတော့ချင်သည် စစ်သေနာပတိ ချုပ်ကိုယ်တော်ကြီး ကူတူဇော့ဗ်နှင့် သွားရောက်တွေ့ဆုံ ကာ ပြင်သစ် ဓားပြများကို နှိမ်နင်းရေးအတွက် ဆွေးနွေး မည်ဖြစ်ကြောင်း ကြေညာလိုက်သည်။ အလဲ့ ကိုယ်တော် ကြီး ဆိုပါလား။ (အရပ်ရှည်ရှည်လူရွယ်က မျက်မှောင် ကုတ်ရာမှ ပြုံး၍ ပြော၏။)"ကျွန်ုပ်တို့ မော်စကို မြို့သူမြို့သားများသည်" (အမိန့်ကြော်ငြာစာဖတ်သူက နားထား လိုက်၏။ "ဟော့ကောင်တွေ ကြားရဲ့လား။ မြို့ဝန်အမိန့်" ဟု အော်သံများ ထွက်ပေါ်လာပြန်သည်။) "ရန်သူများအား နှိမ်နင်းရာတွင် တပ်တော်ကြီးနှင့် အတူ ပါဝင်ဆောင်ရွက် မည်ဖြစ်လျက် ကျူးကျော်သူများကို သေတွင်းသို့ ပို့ ဆောင်မည်ဖြစ်သည်။ ကိုယ်တော်ကြီးကူတူဇော့ဗ်နှင့် တွေ့ ဆုံ၍ အရေးကိစ္စများကို တိုင်ပင်ဆွေးနွေးပြီးနောက်

ကျွန်ုပ် သည် မြို့သို့ ပြန်၍ ညစာစားကာ ပြုဖွယ်ကိစ္စတို့ကို ပြု လုပ်မည် ဖြစ်သည်။ ကျွန်ုပ်တို့သည် ရန်သူစေးပြတို့ကို မောင်းနှင်ထုတ်ကြမည် ဖြစ်ကြောင်း။ မြို့ဝန်မင်း အမိန့် တော်”

နောက်ဆုံး စာပိုဒ်ကို ဖတ်သောအခါ၌ လူအုပ်ကြီး သည် တိတ်ဆိတ်လျက် ရှိ၏။ အရပ်ရှည်ရှည်လူရွယ်သည် မျက်မှောင်ကြီးကုတ်၍ ခေါင်းငုံ့နေ၏။ လူအုပ်ကြီးသည် အမိန့်ကြော်ငြာစာ၏အဓိပ္ပာယ်ကို နားလည်ပုံ မရကြချေ။ အထူးသဖြင့် “ကျွန်ုပ်သည် မြို့သို့ ပြန်၍ ညစာစားကာ” ဟူသောစာပိုဒ်ကိုကား အမိန့်စာဖတ်နေသူကရော လူအုပ် ကြီးကပါ နှစ်သက်ပုံမရကြချေ။ ထိုအချိန်၌ လူအုပ်ကြီး မှာ သွေးဆူလျက်ရှိလေရာ သွေးဆူလျက်ရှိသော လူအုပ် ကြီးအား မလိုသောစာပိုဒ်ကို ဖတ်ပြ၍ ဘာအကျိုးထူးမည် နည်း။ အာဏာအပိုင်ဆုံးသော မြို့ဝန်ရင့်မကြီး၏ အမိန့် ကြော်ငြာစာဖြစ်ပါလျက် ထိုအထဲ၌ ၎င်း၏ထမင်းစား ရေသောက်ကိစ္စကို အဘယ့်ကြောင့် ရေးကြီးခွင်ကျယ်လုပ် ၍ ထည့်ရေးနေရ သေးသနည်း။

လူအုပ်ကြီးသည် စိတ်ပျက်လက်ပျက်ဖြင့် ဝိုင် နေကြ၏။ အရပ်ရှည်ရှည် လူရွယ်သည် ပါးစပ် တရွရွလှုပ် လာကာ

”ဟော့ ဒီလူက ဘာဆိုင်လို့ အမိန့်ကြော်ငြာစာကို ဖတ်ရတာလဲ။ သူက မြို့ဝန်လား”

“အေး ဟုတ်တယ်၊ ဒီကောင်က ဘာကောင်လဲ”

တစ်ယောက်တစ်ပေါက် အော်ဟစ်လာကြ၏။ ထိုအခိုက် လမ်းပေါ်မှ ရဲဝန်၏ရထားသည် ဘေးတစ်ဖက် တစ်ချက်တွင် လက်ပစ်ဖုံးကိုင် ရဲသားနှစ်ဦးခြံရံ၍ မောင်း လာလေသည်။ လူအုပ်ကြီးသည် ရထားဆီသို့ အာရုံပြောင်း သွားပြန်သည်။

ရဲဝန်သည် ထိုနေ့နံနက်က မြို့ဝန် ရှော့စတော့ချင် ၏အမိန့်ဖြင့် မော့စကာ ဗာမြစ်ထဲရှိ ဖောင်များ ကူးတို့လှေ များကို သွားရောက်ဖျက်ဆီးရာမှ ပြန်လာခဲ့ခြင်း ဖြစ်၏။ ရဲဝန်၏အိတ်ထဲတွင် လှေပိုင်ရှင်များက လာဘ်ထိုးလိုက် သဖြင့် ငွေစက္ကူ များ တစ်ထပ်ကြီးပါလာလေသည်။ မိမိ ရထားဆီသို့ ဝိုင်းအုံလာကြသည့် လူအုပ် ကြီးကို မြင်သည့် အခါတွင် ရဲဝန်သည် ရထားကို အရပ်ခိုင်းလိုက်၏။

"ဘာလဲဟေ့" ရဲဝန်က မိမိရထားဆီသို့ မရဲတရဲကပ်လာသည့် လူအုပ်ကြီးကို မေးလိုက်၏။

"ဟေ့၊ ဘာလဲလို့ မေးနေတာ မကြားဘူးလား" လူအုပ်ကြီးက မဖြေသဖြင့် ရဲ ဝန်က ထပ်မေးလိုက်သည်။

"ဟုတ် ဟုတ်ကဲ့ သခင်ကြီး၊ မြို့ဝန်မင်းဘုရားရဲ့ ကြော်ငြာစာကိုဖတ်ပြီး ဟောဒီက ဟောဒီကလူတွေက ရန်သူတွေကို တိုက်ချင်တယ်လို့ ပြောနေကြလို့ပါ။ အဓိက ရုဏ်း မဟုတ်ပါဘူး။ မြို့ဝန်မင်းဘုရား ရဲ့ ကြော်ငြာစာကို ဖတ်ပြီး"

ခါးတိုအင်္ကျီဝတ်ထားသူက ဆို၏။

"အေး၊ တိုက်ချင်ရင် နေကြဦး။ မြို့ဝန် ရှိသေး တယ်။ မကြာခင် အမိန့် ထပ် ထုတ်လိမ့်မယ်။ ကဲဟေ့ မောင်းတော့" ရဲဝန်သည် ရထားကို အမောင်း ခိုင်းလိုက်၏။

လူအုပ်ကြီးသည် မောင်းထွက်သွားသော ရထားကို ကြည့်ကာ တစ်ယောက် တစ်ယောက် ဝေဖန်ပြောဆိုလျက် ရှိကြ၏။

ရဲဝန်သည် နောက်တွင်ကျန်ရစ်ခဲ့သော လူအုပ်ကြီး ကို ထိတ်လန့်ကြောက်ရွံ့ သောအမူအရာဖြင့် လှမ်းကြည့် ပြီးနောက် ရထားသမားကို တစ်စုံတစ်ရာ လှမ်း

ပြောလိုက် ရာ ရထားသည် ယခင်ကထက် လျင်မြန်စွာ အရှိန်ပြင်း လာလေသည်။ . ။

"ဟေ့လူတွေ၊ ဒီရဲဝန်ကောင် တို့ကို လိမ်သွားတာ ကွ။ မြို့ဝန်ရော ရဲဝန်ရော ထွက်ပြေးကုန်ကြပြီ ထင်တယ်။ လိုက်ဖမ်းကြဟေ့၊ လိုက်ဖမ်းကြ။ ရဲဝန် တို့ကို မ လိမ့် တပတ်လုပ်ပြီး ထွက်ပြေးတာ။ မလွတ်ပေ့စေနဲ့ ဖမ်းကြ၊ ဖမ်းကြ"

အရပ်ရှည်ရှည်လူရွယ်က အော်လိုက်သည်။ လူ အုပ်ကြီးသည် ရဲဝန်၏ ရထားနောက်သို့ ဝိုင်းလိုက်ကြပြန် ၏။ ဤသို့ တစ်ယောက်တစ်ပေါက် အော်ဟစ် ရင်း ရဲဝန် ၏ရထားနောက်သို့ လိုက်လာကြရာမှ လူအုပ်ကြီးသည် လူဗျူန်ကာလမ်း အနီးသို့ ရောက်လာကြ၏။

"ဟေ့၊ မင်းမျိုးမင်းနွယ်တွေရော၊ ကုန်သည်တွေ ရော တို့ကိုပစ်ပြီး ထွက်ပြေး ကုန်ကြပြီကွ။ မအေပေးတွေ။ တို့ကို ခွေးသေပစ်သလို ပစ်,ပစ်ခဲ့တယ်။ မအေပေး ရဲဝန်၊ မအေပေး မြို့ဝန်" ။

လူအုပ်ကြီးထဲမှ ဆဲဆိုသံများ ထွက်ပေါ်လာ လေသည်။

# အခန်း ၂၄

စစ်သေနာပတိချုပ်ကူတူဇော့ဗ်နှင့် တွေ့ဆုံပြီးနောက် မြို့ဝန် ရော့စတော့ ချင်သည် စက်တင်ဘာလ ၁-ရက်နေ့တွင် မော်စကိုမြို့သို့ ပြန်ရောက်လာခဲ့လေ သည်။ စစ်သေနာ ပတိချုပ်က မိမိအား စစ်ဦးစီးဌာနချုပ်၏ အရေးပေါ် အစည်းအဝေးသို့တက်ရောက်ရန် ဖိတ်ကြားခြင်းမပြုသည့် အတွက်ကြောင့် လည်းကောင်း၊ မော်စကိုမြို့ကာကွယ်ရေး တွင် မိမိပါဝင်ဆောင်ရွက်မည်ဟု ကမ်းလှမ်းခြင်းကိုအရေး မစိုက်သည့်အတွက်ကြောင့် လည်းကောင်း ရက်လည်း

ရုက် ဒေါလည်းပွလျက် ရှိသည်။ စစ်သေနာပတိချုပ်က မော် စကိုမြို့၏ ငြိမ်ဝပ် ပိပြားရေးနှင့် ဇာတိသွေး ဇာတိမာန် ထက်သန်မှုတို့ကို သာမန်ကာလျှံကာမျှ သဘောထားရုံမက မိမိနှင့် ပတ်သက်ခြင်းမရှိသော အရေးမကြီးသည့် ကိစ္စ တစ်ရပ်ဖြစ်လေဟန် ပြလိုက်ခြင်းကြောင့်လည်း အံ့ဩမိ သည်။ ဤသို့ဖြင့် စစ်သေနာပတိချုပ်၏ စခန်းရုံးတွင် တွေ့မြင်ခဲ့ရသော ထူးဆန်းသည့် အပြုအမူ များကြောင့် မြို့ဝန်ရော့စတော့ချင်သည် ဝမ်းနည်းသောစိတ်၊ နာကြည်း သောစိတ်၊ အံ့အားသင့်သောစိတ်တို့ဖြင့် မော်စကိုသို့ ပြန် လာခဲ့၏။ ညလယ်စာစားပြီးသည် နှင့် မြို့ဝန်ရော့စတော့ ချင်သည် အဝတ်အစားကိုမျှပင် မလဲနိုင်ဘဲ ထိုင်ဖုံတစ်ခု ပေါ်တွင် ခြေပစ်လက်ပစ်အိပ်ပျော်သွားလေရာ သန်းခေါင် ကျော်အချိန် စစ်သေနာပတိချုပ်ကူတူဇော့ဗ်ထံမှ စာတစ် စောင်ကို ယူဆောင်လာသော ဆက်သားတစ်ဦးရောက်လာ သည့်အခါမှ နိုးလေတော့သည်။ စာ၌ ရုရှားတပ်များ မော်စ ကိုကို ဖြတ်၍ ရာဇန်ပေတစ်ရာလမ်းမကြီးအတိုင်း ဆုတ်ခွာမည်ဖြစ်ကြောင်း၊ ထို့ကြောင့် မြို့တွင်း၌ တပ်များကို လမ်းပြရန် ရဲအရာရှိများ စေလွှတ်ပေးပါမည့် အကြောင်း ဖော်ပြထား၏။ ဤစာသည် မြို့ဝန် ရော့စတော့ချင်အဖို့ အဆန်း မဟုတ်တော့ချေ။ ယမန်နေ့က ပေါက္ကလုံနီတောင် ကုန်းထိပ်စခန်း၌ စစ်သေနာပတိချုပ်ကူတူဇော့ဗ်နှင့် မတွေ့ မီ ဘိုရိုဒီနိုတိုက်ပွဲပြီးကတည်းက မော်စ ကိုမြို့အား ရန်သူ့ လက်သို့ စွန့်ပစ်ခဲ့ရတော့မည်ဖြစ်ကြောင်း မြို့ဝန် ရော့ စတော့ ချင်သိပြီးဖြစ်၏။ ဘိုရိုဒီနိုတိုက်ပွဲ ပြီးသည့်နောက် မော်စကိုသို့ ရောက်လာသော စစ်ဗိုလ်ချုပ်များအားလုံးက လည်း မော်စကိုမှ ခုခံ၍ မဖြစ်တော့ကြောင်း တညီတညွတ်  တည်း ထုတ်ဖော်ပြောဆိုခဲ့ပြီး ဖြစ်၏။ ထိုအချိန်မှစ၍ အစိုးရပိုင် ပစ္စည်းများကို ညတိုင်းရွှေ့ ပြောင်းထားပြီးလေပြီ။ မြို့သူမြို့သားတစ်ဝက်ကျော် တို့သည်လည်း မြို့ဝန်ရော့စ တော့ချင်၏ ခွင့်ပြုချက်ဖြင့် မြို့မှ ထွက်ခွာသွားကြ လေ သည်။ သို့သော်လည်း မြို့ဝန်ရော့စတော့ချင်သည် ဤစာ ကို ရသောအခါ မော်စကိုမှ ဆုတ်ခွာရတော့မည်ဆိုခြင်းကို ယခုမှ သိသကဲ့သို့ အံ့အားသင့်လျက်

ရှိ၏။ မိမိကဲ့သို့ မြို့ဝန်ရင့်မကြီးတစ်ယောက်ကို စာလေးတစ်ကြောင်း နှစ်ကြောင်း လောက်မျှဖြင့် တိုတိုတောင်းတောင်း အမိန့် ပေးထားရုံမျှမက အချိန်မတော် ညဉ့် ကြီးသန်းခေါင် နှစ် နှစ်ခြိုက်ခြိုက် အိပ်ပျော်နေရာသို့ နှိုး၍ လာရောက်ပေး သဖြင့် လည်း ဒေါပွလျက် ရှိလေသည်။

ထိုစဉ်က ၎င်း၏အပြုအမူနှင့် ပတ်သက်၍ နောင် သောအခါ မြို့ဝန် ရော့စ တော့ချင်က မှတ်တမ်းရေးခဲ့ရာ တွင် မိမိမှာ ထိုအချိန်က အရေးကြီးသော အချက် နှစ် ချက်ကိုသာ စဉ်းစားခဲ့ကြောင်း၊ ယင်းတို့မှာ မော်စကိုမြို့ ၏ ငြိမ်ဝပ်ပိပြားရေး နှင့် မြို့သူမြို့သားများကို အမြန်ဆုံး ပြောင်းရွှေ့နိုင်ရန် စီစဉ်ရေးဖြစ်ကြောင်းဖြင့် ဖော်ပြခဲ့ လေသည်။ ၎င်း၏အဆိုပါ အကြောင်းပြချက်နှစ်ချက်သည် တကယ်အမှန် ဖြစ်လျှင် မြို့ဝန် ရော့စတော့ချင်ကို ဘာမျှ အပြစ်ဆိုဖွယ်မရှိချေ။ “ဘုရားဌာပနာ များ၊ လက်နက်များ၊ ခဲယမ်းမီးကျောက်များ၊ ယမ်းအိုးများ၊ ဂျုံစပါးသိုလှောင် ရာ ဌာနများကို အဘယ့်ကြောင့် ရွှေ့ပြောင်းခြင်း မပြု သနည်း။ မော်စကိုမြို့ကို စွန့်လွှတ်ခြင်းပြုမည်မဟုတ်ဟု အဘယ်ကြောင့် မြို့သူ မြို့သားများအား လိမ်လည် ပြော ဆိုထားရသနည်း။ ဤသို့ဖြင့် များစွာသောပစ္စည်းတို့ ဆုံးရှုံးရသည် မဟုတ် လော”ဟု အပြစ်တင်ကြခြင်းနှင့် ပတ်သက်၍ “ယင်းမှာ မော်စကိုမြို့၏ ငြိမ်ဝပ် ပိပြားရေး ကို ထိန်းသိမ်းရန် စီမံရခြင်း ဖြစ်ပါသည်” ဟု မြို့ဝန် ရော့စတော့ချင်က ၎င်း၏မှတ်တမ်းတွင် ရှင်းလင်းဖော်ပြ ထားသည်ကို တွေ့ရသည်။ “အစိုးရရုံးများမှ အသုံးမဝင် သော စာရွက်စာတမ်းများ၊ လက်ပစ်၏မီးပုံးပျံများနှင့် အခြားပစ္စည်း များကို ရေးကြီးခွင်ကျယ်လုပ်၍ ပြောင်းရွှေ့ ခြင်း ပြုရသလော”ဟု အပြစ်တင်ကြ ခြင်းနှင့် စပ်လျဉ်း ၍မူ “ဤသည်မှာ ရန်သူတို့ ဝင်လာသောအခါ မြို့ကို ဟောင်းလောင်းထားခဲ့လို၍ ဖြစ်သည်” ဟု ၎င်း၏မှတ်တမ်း တွင် ရှင်းချက် ထုတ်ထားသည်ကို တွေ့ရပြန်သည်။ ယင်း သို့ဖြင့် မြို့ဝန် ရော့စတော့ချင်သည် မည်သည့်အလုပ်ကို လုပ်သည်ဖြစ်စေ ရပ်ရွာငြိမ်ဝပ်ပိပြားရေးအတွက် လုပ်ရ

သည်ဟူသော ခာတ်ပြားဟောင်းကြီးကို ဖွင့်ပြတတ်သည် သာ ဖြစ်ပါသည်။ အုပ်စိုးသူများသည် ရပ်ရွာငြိမ်ဝပ်ပိပြား ရေးဟူသော အကြောင်းပြချက်ဖြင့် ၎င်းတို့၏ရက်စက် ကြမ်းကြုတ်မှုများကို ဖုံးကွယ်တတ်ကြသည်သာ ဖြစ်ပါ သည်။

စင်စစ်၌ကား ငါ့မင်းငါ့ချင်း အာဏာရှင်စနစ်၏ ရက်စက်ကြမ်းကြုတ်မှုဟူသမျှသည် ရပ်ရွာငြိမ်ဝပ်ပိပြား ရေးဟူသော အကြောင်းပြချက်မှ ပေါက်ဖွားလာကြခြင်း သာဖြစ်လေသည်။

၁၈၁၂-ခုနှစ်တုန်းက မြို့ဝန်ရော့စတော့ချင်သည် မည်သည့်အတွက်ကြောင့် မြို့ရွာငြိမ်ဝပ်ပိပြားရေးအတွက် ဤမျှ စိုးရိမ်ကြောင့်ကြ ဖြစ်နေရပါသနည်း။ မြို့ထဲတွင် မြို့သူ မြို့သားတို့ ပုန်ကန်သောင်းကျန်းကြလိမ့်မည်ဟု စိုးရိမ်ရလောက်အောင် မည်သည့်အထောက်အထားများ ရှိပါသနည်း။ ထိုအချိန်က မြို့သူမြို့သားများသည် မြို့မှ ထွက်ခွာလျက်ရှိပြီး စစ်တပ်များလည်း တစ်မြို့လုံး တင်း ကျမ်း- ပြည့်လျက်ရှိသည် မဟုတ်ပါလော။ ဤအချက်သည် ပုန်ကန်ထကြွစရာရှိသည်ဟု စိုးရိမ်စရာအကြောင်းလော။

မော်စကို၌ ဖြစ်စေ၊ ရုရှားနိုင်ငံတစ်ဝှမ်းရှိ မည်သည့် မြို့ရွာ၌ ဖြစ်စေ ပုန်ကန်ထကြွမှုနှင့် တူသည့်အရာဟူ၍ တစ်ခုမျှဖြစ်ပွားခဲ့ခြင်း မရှိချေ။ စက်တင်ဘာလ ၁-ရက် နေ့နှင့် ၂-ရက်နေ့အထိ မော်စကိုမြို့ထဲ၌ လူဦးရေတစ်သိန်း ခန့်ရှိနေသေးသော်လည်း မြို့ဝန်၏ အိမ်ဝင်းထဲ၌ မြို့ဝန် ပြောင်းရွှေ့ခါနီး လာရောက်နှုတ်ဆက်ကြရင်း အနည်းငယ် ရုန်းရင်းဆန်ခတ်ဖြစ်သည်မှအပ အခြားဘာမျှ ထွေထွေ ထူးထူး မဖြစ်ပွားခဲ့ချေ။ ဘိုရိုဒီနိုတိုက်ပွဲပြီးသည့်နောက် မော်စကိုမြို့ကို ရန်သူ့လက်သို့ ဝကွက်အပ်ရန် တစ်ဝက် သေချာနေသည့်အချိန်တွင် မြို့ဝန် ရော့စတော့ချင်သည် အမိန့်ကြော်ငြာစာများ ထုတ်ပြန်ခြင်း၊ လက်နက်များ ဖြန့်ဝေခြင်းစသည်တို့ကို ပြုလုပ်ခဲ့လေရာ ဤသို့ပြုလုပ်ခြင်း သည် ဘာမျှ အရာမထင်ဘဲ အများပြည်သူတို့

စိတ်ဓာတ် ချောက်ချားခြင်းကိုသာ ဖြစ်စေခဲ့လေသည်။ မြို့ဝန် ရော့စ တော့ချင်သည် ဤသို့ အများပြည်သူ စိတ်ဓာတ်ချောက်  ချားစေမည့်အရာများကို မလုပ်ဘဲ အဖိုးတန်ဥာပနာများ၊ ယမ်းအိုးများ၊ ခဲယမ်းမီးကျောက်များ၊ ငွေစက္ကူများကို ပြောင်းရွှေ့ရန် ပြင်ဆင်သင့်သည်တို့ကို ပြင်ဆင်၍ မော် စကိုမြို့ကို ရန်သူ့လက်သို့ အပ်ရတော့မည်ဖြစ်ကြောင်း အများပြည်သူတို့ကို ရှင်းရှင်းလင်းလင်း အသိပေးခဲ့မည် ဆိုပါက ဤမျှလောက်ပင် ရုန်းရင်းဆန်ခတ် ဖြစ်စရာ အကြောင်း မရှိချေ။

မြို့ဝန် ရော့စတော့ချင်သည် ဇာတိသွေး ဇာတိမာန် ပြင်းထန်သူတစ်ဦးဖြစ်သော်လည်း အထက်တန်းကျသော မင်းစိုးရာဇာအသိုင်းအဝိုင်းတွင်သာ ကျင်လည်ကျက်စား လျက် ကိုယ့်ကိုယ်ကို အထင်ကြီး၍ စိတ်နောက်ကိုယ်ပါ လုပ်တတ်သူတစ်ယောက် ဖြစ်သည်။ သူ့ကိုယ်သူ အများ ပြည်သူတို့ကို လမ်းညွှန်လမ်းပြပြုနေသူတစ်ဦး ဖြစ်သည် ဟု အထင်ရောက်နေသော်လည်း အများပြည်သူတို့၏ အကြောင်းကို နကန်းတစ်လုံးမျှ နားမလည်သူဖြစ်သည်။ ရန်သူပြင်သစ်တို့ စမိုးလင့်နယ်သို့ ရောက်လာပြီဆိုကတည်း က မြို့ဝန်ရော့စတော့ချင်သည် သူ့ကိုယ်သူ ပြည်သူလူထု ၏ ပြင်သစ်ဆန့်ကျင်သူစိတ်ဓာတ်ကို ပုံသွင်းဖန်တီးနေ သည့် ပိသုကာကြီးအဖြစ် သွေးနားထင်ရောက်လျက်ရှိသူ ဖြစ်သည်။ မိမိသည် မော်စကိုမြို့သူ မြို့သားများ၏ ပြင်ပ ဗဟိဒ္ဓသဏ္ဍာန်ဖြစ်သော နေရေးထိုင်ရေးကိစ္စအဝဝကို စီမံခန့်ခွဲ အုပ်ချုပ်လျက်ရှိသည်ဟု ထင်နေရုံမျှမက အမိန့် ကြော်ငြာစာများ ထုတ်ပြန်ခြင်း၊ နံရံကပ်ကြော်ငြာများ ဖြန့် ဝေခြင်းစသည့် နည်းလမ်းအသွယ်သွယ်တို့ဖြင့် ၎င်းတို့၏ အဇ္ဈတ္တသဏ္ဍာန်ဖြစ်သော စိတ်နေသဘောထားများကိုပါ စီမံခန့်ခွဲ အုပ်ချုပ်နိုင်သည်ဟုလည်း ဘဝင်မြင့်နေသူ ဖြစ် သည်။ (အုပ်စိုးသူတိုင်းပင် ဤသို့ အထင်ကြီးတတ်ကြ ပါသည်။) တကယ်၌ မြို့ဝန် ရော့စတော့ချင်၏ လေသံတင်းမာလှသောအမိန့်ကြော်ငြာစာများကို လူတန်းစား အသီးသီးက စက်ဆုပ်ရွံ့မုန်းကြသည့်ပြင် အုပ်ချုပ်ရေး ပိုင်းပုဂ္ဂိုလ်များကိုယ်၌ကပင် နားမလည်ကြချေ။

မြို့ဝန် ရော့စတော့ချင်သည် ပြည်သူလူထု၏ရန်သူဆန့်ကျင်ရေး စိတ်ဓာတ်ကို ပုံသွင်းဖန်တီးပေးသည့် ဗိသုကာကြီးတစ်ဦး အဖြစ် မိမိကိုယ်ကို မိမိ များစွာကျေနပ်နှစ်သိမ့်လျက် ရှိရုံမျှမက ဤသို့ ကျေနပ်နှစ်သိမ့်နေရခြင်း၏အရသာ ကိုလည်း "လျှာလည်" နေပြီ ဖြစ်ရကား မိမိသည် ဗိသုကာ ကြီးအဖြစ်မှ လျှော့ကျရတော့မည်ဟု လည်းကောင်း၊ မိမိ၏အစွမ်းအစကလေးကိုမျှ မပြလိုက်ရဘဲ မော်စကိုမှ ဆုတ်ခွာရတော့မည်ဟုလည်းကောင်း မမျှော်လင့်ဘဲ သိမြင် လာရသောအခါတွင် သူ့ခြေထောက်အောက်မှ မြေကြီး သည် တအိအိပြိုကျလျက်ရှိပြီဟု သတိရလာကာ ဘာလုပ် ရမည် မသိတော့ဘဲ ခြေမကိုင်မိ လက်မကိုင်မိဖြစ်လျက် ရှိလေသည်။ မော်စကိုမြို့ကို စွန့်ခွာရတော့မည့်အချိန်သည် တဖြည်းဖြည်းနီးလာပြီဟု သိသော်လည်း မြို့ဝန်ရော့စ တော့ချင်သည် နောက်ဆုံးအချိန်အထိ ထိုအချက်ကို စိတ်ချလက်ချ မယုံသေးချေ။ ထို့ကြောင့် ဆုတ်ခွာရေး ကိစ္စအတွက် မည်သည့်ပြင်ဆင်မှုကိုမျှလည်း မပြုလုပ်ရ သေးချေ။ မြို့သူ မြို့သားများမှာ ၎င်း၏အမိန့်ကို ဖီဆန် ၍ ထွက်ခွာသွားကြလေပြီ။ အစိုးရဌာနများကိုကား ပြောင်း ရွှေ့ခြင်းမပြုရသေးချေ။ ပြောင်းရွှေ့ပြီးဖြစ်သည်ဆိုလျှင် ၎င်းတို့မှာ အမှုထမ်း အရာထမ်းများ၏ တောင်းဆိုချက်ကို မလွန်ဆန်သာ၍သာ စိတ်မပါ့ တပါ ပြောင်းရွှေ့ရခြင်းမျိုး သာဖြစ်သည်။ သို့ဖြင့် မြို့ဝန် ရော့စတော့ချင်သည် ကိုယ့် ကိုယ်ကို ပြင်သစ်ဆန့်ကျင်ရေးစိတ်ဓာတ် ဗိသုကာကြီး အဖြစ် စိတ်ကူးယဉ်လျက်ရှိလေသည်။ မြို့ဝန် ရော့စတော့ ချင်သည် မော်စကိုမြို့မှ ထွက်ခွာရတော့မည်ဟူသော အချက်ကို မဆွကတည်းက သိခဲ့သော်လည်း (ထိုသို့ သိခြင်းမှာ လွန်စွာစိတ်ကူးယဉ်သူတို့ ဖြစ်မြဲဓမ္မတာအတိုင်း အသိဉာဏ်ဖြင့် သိခြင်းသာဖြစ်၍ နှလုံးသားဖြင့် ယုံကြည်ခြင်း မဟုတ်ချေ။) ပြောင်းလဲ ဖြစ်ပေါ်လာသော အခြေအနေသစ်များနှင့် အညီ လုပ်ဆောင်ရန် စိတ်ကူး မထည့်သေးချေ။

ဤနည်းများဖြင့် မြို့ဝန် ရှော့စတော့ချင်သည် ပြည်သူလူထု၏နှလုံးသား အတွင်း၌ မိမိကဲ့သို့ ဇာတိမာန် စိတ်ဓာတ်များ၊ ရန်သူဆန့်ကျင်ရေးစိတ်ဓာတ်များ တဖွား ဖွား ပေါ်ပေါက်လာအောင် အပတ်တကုတ်ကြိုးစားအား ထုတ် လှုံ့ဆော် လျက်ရှိလေသည်။ (၎င်း၏လှုံ့ဆော်ချက် သည် မည်မျှအရာရောက်သည် မရောက် သည်၊ ပြည်သူ များအပေါ်၌ မည်မျှစူးဝင်သည် မဝင်သည်မှာ တစ်ဌာန ဖြစ် ပါသည်။

သို့သော်လည်း မည်မျှ ကြိုးစားအားထုတ်လှုံ့ဆော် သည်ဖြစ်စေ အဖြစ်အပျက်များသည် ၎င်းတို့၏စစ်မှန်သော  သမိုင်းလက္ခဏာကို ဆောင်လာ ကြလေပြီ။ ပြင်သစ်မုန်း တီးရေးစိတ်ဓာတ်ကိုလည်း စကားဖြင့် ထုတ်ဖော်ပြသဖြင့် မလုံလောက်တော့ပြီ။ တိုက်ပွဲတစ်ပွဲလောက် တိုက်၍ ပြသရုံမျှဖြင့် မလုံလောက် တော့ပြီ။ ကိုယ့်ကိုယ်ကို အထင် ကြီးနေရုံမျှ ဖြင့်လည်း ပြဿနာကိုဖြေရှင်း၍ မ ဖြစ်တော့ပြီ။ မော်စကို မြို့သူ မြို့သားအားလုံးသည်လည်း မိမိတို့ ၏ ဇာတိမာန် စိတ်ဓာတ်ကို ဆန့်ကျင်ဘက်နည်းဖြင့် ပြသည့်အလား မိမိတို့၏အိုးအိမ်ပစ္စည်းများ ကို စွန့်ခွာကာ စိတ်တစ်ခုတည်း ကိုယ်တစ်ခုတည်းကဲ့သို့ မော်စကိုမှ တရုန်းရုန်း ထွက်ခွာလျက် ရှိလေပြီ။ ဤသို့သောအချိန်မျိုးသို့ ဆိုက်ရောက် လာသောအခါ တွင် မြို့ဝန်ရှော့စတော့ချင်၏ အမျိုးသားရေးစိတ်ဓာတ် ဗိသုကာကြီးသဖွယ် ဟန်ရေးပြ ခြင်းဟူသမျှ တို့သည်လည်း အဓိပ္ပာယ်ကင်းမဲ့သည့်အဖြစ်သို့ ဘွားဘွား ကြီး ပေါ်လာခဲ့လေပြီ။ မြို့ဝန် ရှော့စတော့ချင်သည် ခါချဉ်ကောင် မာန်ဖီသကဲ့သို့ ဖြစ်နေသော ရယ်ဖွယ်ကောင်း လု သည့် မိမိ၏နောက်သို့ လှည့်ကြည့်လျှင် အရိပ် ကိုသာ တွေ့ရတော့သည့်အဖြစ်ကို ရုတ်တရက်သိမြင်လာကာ မိမိ၌ ရပ်တည်စရာ မြေကြီး မရှိတော့ချေပြီဟု သဘော ပေါက်လာခဲ့လေသည်။

အိပ်ရာမှ နိုး၍ စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ တိုတောင်းသော တစ်ချက်လွှတ်အမိန့်ကို ရရှိသောအခါ တွင် မြို့ဝန် ရှော့စတော့ချင်သည် ပို၍ဒေါပွ

လာကာ ကိုယ့် ကိုယ်ကို ပို၍စိတ်ဆိုးလာ၏။ မိမိက အထူးတာဝန်ယူ ထိန်းသိမ်း ထားရသည့် အစိုးရပစ္စည်းများအားလုံးမှာ စော စောကတည်းကရွှေ့ပြောင်းထား ရန် ဖြစ်သော်လည်း ယခု တိုင် မော်စကိုမှာပင် ရှိသေးသည်။ အားလုံးရွှေ့ပြောင်းဖို့ ဆိုသည်မှာ ယခုအချိန်၌ မဖြစ်တော့ချေ။

"ဒါ ဘယ်သူ့တာဝန်လဲ။ ဘယ်သူ့ကြောင့် ဒီလို အကျပ်အတည်းတွေ ဖြစ်ရ တာလဲ။ ငါ့ကြောင့် မဟုတ် ဘူး။ ဘယ်နည်းနဲ့မှ ငါ့ကြောင့်မဟုတ်ဘူး။ ငါတစ် ယောက် လုံး မော်စကိုမြို့ကို သေသေချာချာ ကွပ်ကဲထားတာပဲ။ ခုတော့ သင်းတို့ ကြောင့် ဒီလိုဖြစ်ရတာ။ သင်းတို့ကြောင့်။ သစ္စာဖောက်တွေ။ မျိုးဖျက်တွေ မြို့ဝန် ရော့စတော့ချင်သည် အားလုံးကို ဝါးလုံး နှင့် သိမ်း၍ ယမ်း၏။ မည်သူမည်ဝါဟု ကား မခွဲခြား တတ်ချေ။ သို့ရာတွင် သူ့စိတ်ထဲတွင်ကား မိမိအား လူ ရယ်စရာ အဖြစ်သို့ ရောက်ကာ အကျပ်အတည်းသို့ ပို့ခဲ့သူ သစ္စာဖောက်များ၊ မျိုးဖျက်များကို ခါးခါးသီးသီးဖြစ် လျက် ရှိလေသည်။

ထိုနေ့ညတစ်ညလုံး မြို့ဝန် ရော့စတော့ချင်သည် အမိန့်များကို တစ်ခုပြီး တစ်ခု ထုတ်ပြန်လျက်ရှိလေသည်။

အမိန့်ကြောင့် ကျန်ရစ်သော မြို့သူ မြို့သားများသည် မြို့ဝန်ထံသို့ ရောက်လာကြ၏။ လက်အောက်အမှုထမ်း အရာထမ်းများက ၎င်းတို့ မြို့ဝန် ဤမျှ စိတ်ဆိုးခြင်းကို တစ်ခါမျှ မမြင်ကြသေးချေ။

"မှန်ပါ၊ မှတ်ပုံတင်ဌာနညွှန်ကြားရေးဝန်ဆီက ညွှန်ကြားချက် လာတောင်း နေပါတယ် မြို့ဝန်မင်းဘုရား။

ကျောင်းထိုင်ဆရာတော်ကြီးများအဖွဲ့ချုပ်၊ လွှတ်တော်ရုံး ကြီး၊ တက္ကသိုလ် မိဘမဲ့ကလေးများဆေးရုံနဲ့ လက်ထောက် ဂိုဏ်းအုပ်ဆရာတော်ဘုရားကြီးတို့ထံ ကလဲ သတင်းစနည်း များ လာရောက်စုံစမ်းနေကြပါတယ်။ နေပြည်တော် မီး

သတ်တပ်ဖွဲ့ အတွက်လဲ အမိန့်ထုတ်ပြန်စရာ ရှိတော်မူပါ သလား မြို့ဝန် မင်းဘုရား။ ထောင်ပိုင်ဝန်နဲ့ စိတ္တဇထောင် ပိုင်တို့ထံကလဲ”

ထိုနေ့ တစ်ညလုံး အလားတူ စုံစမ်းမေးမြန်းချက် များသည် မြို့ဝန် ရော့စ တော့ချင်ထံသို့ တဖွဲဖွဲရောက်နေ ကြ၏။

ထိုသို့ မေးမြန်းစုံစမ်းလာတိုင်း မြို့ဝန်ရော့စတော့ ချင်သည် ယခုအချိန်၌ မိမိ ထံမှ ဘာမျှ အမိန့်ထုတ်ပြန် စရာ မလိုတော့ကြောင်း၊ မိမိစီမံထားသမျှမှာ မလိုသူ တို့ ဝင်ဖျက်သဖြင့် ခဲလေသမျှ သဲရေကျဖြစ်ရပြီဖြစ်ကြောင်း၊ ဖြစ်ပေါ်လာသည့် အခြေအနေအားလုံးမှာ မိမိအစီအမံကို ဝင်ရောက်ဖျက်ဆီးသူတို့၏ တာဝန်သာ ဖြစ်ကြောင်း စိတ် ဆိုးမာန်ဆိုးဖြင့် အော်လွှတ်လျက် ရှိလေသည်။

“ခွေးမသား မှတ်ပုံတင်ဝန်ကို ပြောလိုက်။ မှတ်ပုံ တင်စာရင်းတွေကို တစ်ခု မှ အပျောက်အရှ မရှိပစေနဲ့လို့။ မီးသတ်တပ်ဖွဲ့ အကြောင်း မေးနေရသေးသလား ကွ။ သူတို့ မှာ မြင်းတွေရှိသားပဲ။ မြင်းတွေအားလုံး ဗလာဒီမာ သွားပြီး လွှတ် ပစ်လိုက်ပစေ။ ပြင်သစ်တွေလက်ထဲ တစ်ကောင်မှ မကျစေနဲ့”

“မှန်ပါ၊ စိတ္တဇထောင်ပိုင်လဲ ရောက်နေပါတယ် ဘုရား။ ဘာအမိန့်တော် ရှိပါ သလဲ” စာအုပ်တိုက်  ဘာအမနဲ့ဟော် ရှိရမှာလဲ။ လျှံတံပစ်ရမှာပေါ့။ အရူးတွေကို ပိတ်ထားပစ်ခဲ့လို့ ဖြစ်မလား။ သွား၊ အကုန် လွှတ်ပစ်လိုက်လို့ ပြောလိုက်။ ရုရှား စစ်တပ်ကို ဒီအရူး တွေ ခေါင်းဆောင်ပြီး အတိုက်ခိုင်းရတာကမှ ရေးတေး တေး ရှိ ဦးမယ်”

အကျဉ်းထောင်ထဲမှ အကျဉ်းသမားများကိစ္စနှင့် စပ်လျဉ်း၍ ထောင်ပိုင်ဝန် က မေးမြန်းသည်တွင် မြို့ဝန် ရော့စတော့ချင်က

”ဘာလဲ၊ စစ်တပ်တစ်တပ်မှ မရှိတော့ဘူးကွ။ အကျဉ်းသားတွေကိုစောင့်ဖို့ တပ်တွေ တောင်းဦးမလို့ လား။ သွား အကုန်လွှတ်ပစ်လိုက်တော့”

“မှန်ပါ၊ နိုင်ငံရေးအကျဉ်းသားများ ကျန်နေသေး ကြောင်းပါ။ မက်ရှကော့တို့၊ ဗာရက်ချာဂျင်တို့ကိုကော လွှတ်ပစ်ရမလားဘုရား”

“ဟော၊ ဗာရက်ချာဂျင် ဟုတ်လား။ ဒီကောင်ကို ကြိုးမပေးရသေးဘူးလား” မြို့ဝန်ရော့စတော့ချင်က အော် လိုက်၏။ မြို့ဝန်သည် ထိုအခါကျမှ ဗာရက်ချာဂျင် ကို အမှတ်ရလာ၏။ “ခေါ်ခဲ့၊ ငါ့ဆီ ခုခေါ်ခဲ့”

# အခန်း ၂၅

နံနက်ကိုးချက်တီးအချိန်လောက်တွင်ကား စစ်တပ်များ သည် မော်စကိုမြို့ကို ဖြတ်သန်းဆုတ်ခွာလျက် ရှိကြလေ ပြီ။ ထိုအချိန်တွင် မည်သူမျှ မြို့ဝန် ရော့စတော့ချင်ထံ လာရောက်၍ အမိန့်များတောင်းခံခြင်း မပြုကြတော့ချေ။ မြို့မှထွက်ခွာနိုင်သူမှန်သမျှသည် ၎င်းတို့သဘောဖြင့် ထွက် ခွာလျက်ရှိကြပြီး ကျန်ရစ်ခဲ့သူတို့ကလည်း မိမိတို့ နေရေး ထိုင်ရေးပြဿနာကို စဉ်းစားဆုံးဖြတ်ကြပြီး ဖြစ်လေသည်။

မြို့ဝန် ရော့စတော့ချင်သည် ဆိုကိုနီကီသို့ သွား မည်ဟုဆိုကာ ကရထားကို ပြင်စေပြီးနောက် လက်နှစ် ဖက်ကို ပိုက်လျက် စာကြည့်ဆောင်ထဲတွင် ထိုင်နေ၏။ မျက်နှာကြီးမည်းလျက် စကားလည်း တစ်ခွန်းမျှ မပြော တော့ချေ။

ခိုးသားဓားပြ တန္တမုဒိမ်းတို့ကင်းငြိမ်း၍ တိုင်းပြည် မြို့ရွာ အေးချမ်းသည့် အခါများ၌ မိမိတို့လက်အောက်ရှိ ပြည်သူများ ဤသို့ငြိမ်းချမ်းသာယာစွာ နေထိုင်ကြခြင်းမှာ  မိမိတို့အုပ်ချုပ်မှုကောင်းသောကြောင့်ဖြစ်သည်ဟု အုပ်စိုးသူ တိုင်း

ထင်မှတ်လေ့ရှိကြသည်။ အုပ်စိုးသူများသည် အစိုးရ နှင့် ပြည်သူကြည်ဖြူ၍ ရေပြောင်ကဲ့သို့ တစ်သားတည်းရှိ သည်ဟူသောအထင်ဖြင့် မိမိတို့လုပ်သမျှ ဟုတ်လှပြီ တင့်တယ်လှပြီဟု ဘဝင်မြင့်တတ်ကြသည်။ ရာဇဝင်တည်း ဟူသော ပင်လယ်သမုဒ္ဒရာ၏မျက်နှာပြင် ငြိမ်သက်လျက် ရှိချိန်၌ တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူများသည် မိမိတို့၏ သေးငယ်လှသော လှေကလေးကိုစီးလျက် ပြည်သူလူထု တည်းဟူသော သင်္ဘောကြီး၏ပွဲတွင် ထိုးဝါးချိတ်ဖြင့် တွဲချည်လိုက်ပါလာတတ်ကြလေသည်။ ထိုအချိန်အခါ မျိုး၌ တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူများသည် ၎င်းတို့ ကိုယ်နှိုက်က သင်္ဘောကြီးနှင့်အတူ ရွေ့လျားလျက်ရှိသည့် အလျောက် "ဤသင်္ဘောကြီးကား ငါတို့၏ပယောဂဖြင့် ရွေ့လျားနေခြင်း ဖြစ်သည်" ဟုလည်း ထင်တတ်ကြသည်။ သို့ရာတွင် လေပြင်းမုန်တိုင်းကျ၍ ပင်လယ်တွင် လှိုင်းတံပိုး တို့ ထကြွကာ သင်္ဘောကြီး လှုပ်ယမ်းတိမ်းစောင်းစပြု လာသောအခါ၌ကား တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူများ သည် ဤသို့ စိတ်ကူးမယဉ်နိုင်တော့ပြီ။ သင်္ဘောကြီးသည် ကြီးမားသောအရှိန်ဖြင့် ၎င်းအလိုအလျောက် လှုပ်ယမ်း လျက် ရှိလေပြီ။ ထိုးဝါးချိတ်ဖြင့် လှမ်းဆွဲသော်လည်း သွက်သွက်ခါယမ်းလျက်ရှိသော သင်္ဘောကြီးကို မမီတော့ ပြီ။ ထိုအခါမျိုး၌ အုပ်စိုးသူသည် (မည်မျှ ပါဝါအာဏာ တွေ ပြစေကာမူ) တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူ မဟုတ် တော့ပြီ။ တန်ခိုးအာဏာရှင်လည်း မဟုတ်တော့ပြီ။ မထင် ရှားသော အသုံးမဝင်သော ခိုကိုးရာမဲ့ဖြစ်သော အညတရ သူတစ်ဦးမျှသာ ဖြစ်လာခဲ့လေပြီ။

မြို့ဝန် ရှော့စတော့ချင်သည် ဤအချက်ကို ရိပ်မိ ၏။ ထို့ကြောင့်လည်း မခံရပ်နိုင်အောင် ဒေါသထွက်လျက် ရှိခြင်း ဖြစ်လေသည်။

လမ်းတွင် လူအုပ်ကြီး၏တားဆီးပိတ်ဆို့ခြင်းကို ခံခဲ့ရသည့်ရဲဝန်သည် မြို့ဝန် ရှော့စတော့ချင်ထံ ရောက် လာ၏။ ထိုအတောအတွင်းမှာပင် မြို့ဝန်၏တပ်ရေး ရောက်လာကာ မြင်းများကပြီးကြောင်းဖြင့် အကြောင်း ကြားလာသည်။ မြို့ဝန်နှင့်

ရဲဝန်နှစ်ယောက်စလုံး၏ မျက်နှာများမှာ ဖြူလျက်ရှိ၏။ ရဲဝန်က မြို့ဝန်၏ညွှန်ကြားချက်အတိုင်း ပြုဖွယ်ရှိသောကိစ္စများကို ပြုလုပ်ပြီး ကြောင်း အစီရင်ခံပြီးနောက် စံအိမ်ဝင်းထဲ၌ မြို့ဝန်နှင့် တွေ့ရန် ရောမလူအုပ်ကြီးတစ်အုပ် လာရောက်စုဝေးနေ ကြောင်းဖြင့် ပြောပြ၏။

မြို့ဝန် ရှေ့စတော့ချင်သည် မည်သို့မျှ မပြောဘဲ ထ၍ ခမ်းနားကျယ်ဝန်းလှသော ဧည့်ခန်းဆောင်ဘက်သို့ ခပ်သုတ်သုတ်လျှောက်ခဲ့ပြီးနောက် လေသာဆောင်တံခါး သို့ လာခဲ့၏။ လေသာဆောင်တံခါးကို ဆွဲဖွင့်လိုက်၍ တစ်ဖန် ပြန်ပိတ်လိုက်၏။ ထို့နောက် ပြတင်းပေါက် အနီးသို့ လျှောက်လာပြန်သည်။ ထိုနေရာမှ ကြည့်လျှင် လူအုပ်ကြီးတစ်ခုလုံးကို ကောင်းစွာမြင်ရ၏။ အရပ်ရှည်ရှည် လူရွယ်သည် လူအုပ်ကြီး၏ထိပ်မှ ရပ်ကာ လက်သီး လက်မောင်းတန်း၍ ခက်ထန်သောအမူအရာဖြင့် တရား ဟောလျက် ရှိသည်။ မျက်နှာတွင် သွေးအလိမ်းလိမ်းကပ် လျက်ရှိသော ပန်းပဲသမားသည် သုန်မှုန်သောမျက်နှာ ထားကို ဆောင်လျက် အနီးတွင် ရပ်နေ၏။ အုတ်အုတ် ကျက်ကျက် ပြောဆိုနေသံများကိုလည်း လူအုပ်ထဲမှ ကြားရလေသည်။

"ငါ့ ရထား အဆင်သင့် ဖြစ်ပလား" မြို့ဝန် ရှေ့စ တော့ချင်က ပြတင်းပေါက်မှ နောက်သို့ ဆုတ်၍ မေး လိုက်၏။

"မှန်ပါ။ အဆင်သင့်ဖြစ်ကြောင်းပါ" တပ်ရေးက ဖြေသည်။

မြို့ဝန် ရှေ့စတော့ချင်သည် လေသာဆောင်ဝသို့ ရောက်လာပြန်သည်။

"သင်းတို့က ဘာကိစ္စ ကျုပ်ကို လာဝိုင်းကြတာ တဲ့လဲ" မြို့ဝန်ရှေ့စတော့ချင်သည် ရဲဝန်ကို လှမ်းမေး၏။

"မှန်ပါ။ မြို့ဝန်မင်းအမိန့်အတိုင်း ပြင်သစ်တွေကို ခံတိုက်ဖို့ လက်နက်များ လာရောက်တောင်းခံကြခြင်း ဖြစ်ကြောင်းပါ။ ဒါပေမဲ့ ဒီလူတွေကို လက်နက်ပေးလို့ သင့်မယ့် မထင်ပါဘုရား။ မြို့ထဲမှာ သောင်းကျန်းဆူပူ နေကြသူများ ဖြစ်ပါတယ်။ ကျွန်တော်မျိုးတောင် သင်းတို့ ဝိုင်းလိုက်လို့ လွတ်အောင် မနည်းပြေးခဲ့ရပါတယ်။ ကျွန်တော်မျိုးကြီး သဘောကတော့"

"တိတ်။ ကျုပ်ကို ညွှန်ကြားချက် ပေးစရာ မလို ဘူး။ ကျုပ် မြို့ဝန်" မြို့ဝန်ရော့စတော့ချင်သည် ရဲဝန်ကို အော်ထုတ်လိုက်၏။ မြို့ဝန်သည် လေသာဆောင်ဝမှ ရပ်၍ လူအုပ် ကြီးကို ကြည့်၏။

"မျိုးဖျက်သစ္စာဖောက်တွေကြောင့် ပြည်သူတို့ အကွပ်မဲ့ကြမ်းပမာ ပရမ်းပတာဖြစ်ကြပြီ။ ငါလဲ အရှက် တကွဲ အကျိုးနည်းဖြစ်ရပြီ ။

မြို့ဝန် ရော့စတော့ချင်သည် ဤသို့ တွေး၏။ ဒေါသအစိုင်အခဲတို့သည် ၎င်း၏ရင်ထဲ၌ အလိပ်လိပ်တက် လာ၏။ မိမိစိတ်တိုင်းမကျတိုင်း "သင်းတို့ကြောင့် ဤ အဖြစ်မျိုး ရောက်ရသည်" ဟု တွေးကာ အခြားသူများကို ဒေါသထွက်လျက် ရှိ၏။ စိတ်နောက်ကိုယ်ပါ လုပ်တတ်သူ များကို ဒေါသစိတ်က လွှမ်းမိုးလေ့ရှိသည့်အလျောက် မြို့ဝန် ရော့စတော့ချင်ကိုလည်း ဒေါသစိတ်က လွှမ်းမိုး ချုပ်ကိုင်လျက် ရှိလေပြီ။ မြို့ဝန် ရော့စတော့ချင်သည် မိမိရင်ထဲတွင် အလိပ်လိပ်တက်လာသော ဒေါသအမျက်ကို ပေါက်ကွဲစေနိုင်ရန်အတွက် ဒေါသထွက်ရမည့်သူကို ရှာ၏။ ရှာ၍ မတွေ့သေး။

"ဤသူတို့ကား ဆူပူသောင်းကျန်းနေသူများ ဖြစ် ၏။ လူရမ်းကားအုပ်ကြီး ဖြစ်၏။ ဤဆင်းရဲသား လူ ရမ်းကားတို့သည် မျိုးဖျက်သစ္စာဖောက်တို့၏အပြုအမူကြောင့် ဒေါသူပုန်ထလျက်ရှိကြပြီ။ သင်းတို့သည် ဒေါသ ကို ဖြေဖျောက်ရန်အတွက် ခံစားခံမည့်သူကို လိုက်ရှာ နေကြဟန် ရှိ၏။"

မြို့ဝန်ရှေ့စတော့ချင်သည် လက်သီးလက်မောင်း တန်း၍ တရားဟောနေသော အရပ်ရှည်ရှည်လူရွယ်ကို ကြည့်ရင်း တွေး၏။ မိမိကိုယ်တိုင်လည်း ဒေါသအမျက် ကို ဖြေဖျောက်ရန် ခေးစာခံလိုနေသည် မဟုတ်ပါလော။ သွေးဆာနေသည် မဟုတ်ပါလော။

"ရထားအဆင်သင့် ပြင်ပြီးပလား" မြို့ဝန်ရှေ့စ တော့ချင်သည် လှည့်၍ မေးပြန်၏။

"မှန်ပါ။ အဆင်သင့်ကြောင်းပါ။ နိုင်ငံရေးအကျဉ်း သမား ဗာရက်ချာဂျင်ကိစ္စနဲ့ ပတ်သက်လို့ အမိန့်ပေးစရာ ရှိပါသေးသလားဘုရား။ ဗာရက်ချာဂျင်ကို ထောင်မှထုတ် လာပြီး ဖြစ်ကြောင်းပါ"

"ဟေ"

မြို့ဝန် ရှေ့စတော့ချင်သည် ဗာရက်ချာဂျင်ကို အမှတ်ရလာ၏။ ချက်ချင်းပင် တံခါးကိုဖွင့်ကာ ခြေလှမ်း  ကျဲကြီးများဖြင့် လေသာဆောင်သို့ ထွက်လာ၏။ အောက်မှ ဆူညံလျက်ရှိသော လူအုပ်ကြီးသည် မီးကို ရေနှင့်သတ် လိုက်သကဲ့သို့ ငြိမ်ကျသွားကာ ဦးထုပ်များကိုချွတ်၍ မြို့ဝန် ရှေ့စတော့ချင်ကို မော့ကြည့်နေကြသည်။

"အချင်းတို့။ ငါ့ကို လာရောက်နှုတ်ဆက်ကြသည့် အတွက် ကျေးဇူးတင်သည်။ ငါ ယခုပင် အိမ်တော်အောက် သို့ ဆင်းလာမည်။ သို့ရာတွင် ငါတို့သည် သစ္စာဖောက် များ၊ မျိုးဖျက်များနှင့် စာရင်းရှင်းရဦးမည်။ မော်စကိုမြို့ ကြီးကို ပျက်စီးကြောင်းကြံသည့် မျိုးဖျက်တို့ကို အပြစ် ပေးရဦးမည်။ ခဏစောင့်ကြ"

မြို့ဝန် ရှေ့စတော့ချင်သည် ဧည့်ခန်းဆောင်ထဲသို့ ခပ်သုတ်သုတ်ပြန်ဝင်လာကာ တံခါးကို ဂျိမ်းခနဲ မြည် အောင် ပိတ်လိုက်၏။

အောက်တွင်ရှိသော လူအုပ်ကြီးထဲမှ အားရကျေနပ် စွာ စကားပြောသံများ ထွက်ပေါ်လာ၏။

"ဟေ့ သစ္စာဖောက်တွေကို စာရင်းရှင်းမလို့တဲ့ကွ။ ကြားလား။ ဒါမှ တို့မြို့ဝန်ကွ" လူအုပ်ကြီးသည် မယုံ မရဲဖြစ်နေသူအချင်းချင်း တစ်ယောက်ကို တစ်ယောက် အားပေးကြ၏။

ခဏကြာလျှင် မြို့ဝန်၏အိမ်မှ အရာရှိတစ်ဦးသည် အိမ်ရှေ့တံခါးမှ ထွက်လာကာ လက်ပစ်ဗုံးကိုင် ရဲမက်များ ကို တန်းစီရန် အမိန့်ပေးလိုက်သည်။ လူအုပ်ကြီးသည် လေသာဆောင်အောက်မှ ဆင်ဝင်အောက်သို့ ရွေ့လာ၏။ မြို့ဝန် ရော့စတော့ချင်သည် ခြေကို ဆောင့်နင်း၍ ထွက် လာကာ တစ်စုံတစ်ယောက်ကို ရှာသည့်ဟန်ဖြင့် ပတ် ဝန်းကျင်ကို လှမ်းကြည့်၏။

"ဘယ်မလဲ ဒီကောင်"

မြို့ဝန် ရော့စတော့ချင်က မေးလိုက်သည်။ ထို အခိုက် လက်ပစ်ဗုံးကိုင် ရဲမက်နှစ်ယောက်သည် လူငယ် တစ်ယောက်ကို အိမ်နောက်ဖေးမှ ထုတ်လာကြ၏။ ထို လူငယ်မှာ ရှည်လျားသောလည်ပင်းရှိ၍ ခေါင်းတုံးကွက် ကျား ရိတ်ထား၏။ အထက်တန်းစားများဝတ်လေ့ရှိသော သားမွေးအနားကွပ် အင်္ကျီပြာကို ဝတ်ထားသော်လည်း အင်္ကျီမှာ ဟောင်းနွမ်းစုတ်ပြလျက် ရှိလေပြီ။ ခါးတွင်မူ အကျဉ်းသားများ ဝတ်လေ့ရှိသော ညစ်ပတ်ပေရေသည့် ဖျင်ကြမ်း ဘောင်းဘီကို ဝတ်ထား၍ စုတ်ပြတ်ပါးလွှာ နေပြီဖြစ်သော ဖိနပ်ရှည်ကြီးကို စီးထား၏။ ညွတ်ကျ တော့မတတ် သေးကွေးချည့်နဲ့သော ခြေထောက်၌ လေးလံ သော သံခြေချင်းကြီးများ ခတ်ထားသည့်အတွက် လမ်း လျှောက်ရာတွင် ဒယီးဒယိုင်ဖြစ်လျက်ရှိ၏။

“ထီ” မြို့ဝန်ရော့စတော့ချင်သည် သားမွေးအနား ကွပ်အင်္ကျီဟောင်းကြီး ဝတ်ထားသည့် လူငယ်ထံမှ မျက်လုံး ကို လွှဲလိုက်၏။ ထို့နောက် လူငယ်ကို ဆင်ဝင်လှေကား ရင်းတွင် ရပ်စေ၏။ . လူငယ်သည် သံခြေချင်းကြီးများကို တချွင်ချွင် မြည်စေလျက် မြို့ဝန် ရော့စတော့ချင်ညွှန်ပြရာသို့ ကွတ ကွတဖြင့် လျှောက်လာပြီး ရပ်နေ၏။ အတွင်းသို့ ခေါက် ဝင်နေသော လည်ပင်းကော်လာကို သပ်ရပ်စေပြီးနောက် ဇက်ကို တစ်ချက်နှစ်ချက်မျှ စောင်းငဲ့ချိုးလိုက်ပြီးလျှင် အလုပ်ကြမ်း လုပ်နေကျမရှိသဖြင့် သေးကွေးချည့်နဲ့နေ သော လက်နှစ်ဖက်ကို စုံ ပိုက်ရပ်ကာ သက်ပြင်းချလိုက်၏။

ဤသို့ လူငယ်က နေရာယူ၍ ရပ်နေစဉ်အတွင်း၌ ကား လူအုပ်ကြီးသည် အပ်ကျသည်ကိုပင် ကြားရတော့ မတတ် ငြိမ်သက်တိတ်ဆိတ်လျက် ရှိ၏။ ရှေ့သို့ အတင်း ဖိတိုးနေသော နောက်ပိုင်းတစ်ဝိုက်တွင်သာ သက်ပြင်းချသံ၊ စုတ်ထိုးသံ၊ ခြေထောက်ရွှေ့သံများကို ကြားရ၏။

လူငယ်နေရာယူစဉ်တွင် မြို့ဝန် ရော့စတော့ချင် သည် မျက်မှောင်ကြီး ကုတ်၍ ရပ်နေရာက အဆီပြန်နေ သောမျက်နှာကို လက်ဖြင့် ပွတ်နေ၏။ ထို့နောက် သတ္တု ကဲ့သို့ မာကျောသောအသံဖြင့်

”အချင်းတို့၊ ဤသူကား အခြားမဟုတ်။ မော်စကို မြို့ကြီးကို ပျက်စီးစေခဲ့ သော သစ္စာဖောက် ဗာရက်ချာဂျင် ပင် ဖြစ်တော့သည်။”

သားမွေးအနားကွပ်အင်္ကျီဟောင်းကြီးကို ဝတ်ထား သည့်လူငယ်သည် ကိုယ်ကို အနည်းငယ်သို့ လိုက်၏။ ဝပ်တွားခယသည့်ဟန်ဖြင့် လက်နှစ်ဖက်ကိုလည်း ယှက် ထားလိုက်သည်။ ခေါင်းတုံးကွက်ကျားအောက်မှ ပိန်ချုံး ချောင်ကျနေသော မျက်နှာကို ငုံထား၏။ မြို့ဝန် ရော့ စတော့ချင်၏စကားကို ကြားသောအခါတွင် လူငယ်သည် တစ်စုံတစ်ရာ ပြန်ပြောလိုသကဲ့သို့ ခေါင်းကို ဖြည်းညင်း စွာ

မော့၍ကြည့်လိုက်၏။ သို့ရာတွင် မြို့ဝန် ရှော့စတော့ ချင်က သူ့ကို မကြည့်။ သေး ငယ်ရှည်လျားသော လည်ပင်း ၌ အကြောကြီးတစ်ခုသည် ကြိုးကြီးတစ်ချောင်းလို ထောင် တက်လာပြီး မျက်နှာသည် ရဲတက်လာ၏။

လူအုပ်ကြီးသည် လူငယ်ကို စိုက်ကြည့်လျက် ရှိ ၏။ လူငယ်ကလည်း လူ အုပ်ကြီးကို လှမ်းကြည့်လိုက် ပြီး အားတက်ဖွယ်အရိပ်အယောင်ကို မြင်လိုက် သကဲ့သို့ မရဲတရဲပြုံးလိုက်၍ နေရာပြင်ရပ်ကာ ခေါင်းကို ပြန့် လိုက်၏။

"ဤသူကား ဘုန်းတော်ကြီးမြတ်သော ဇာဘုရင် နှင့် နိုင်ငံတော်ကို သစ္စာဖောက်သူဖြစ်သည်။ ဘိုနာပတ်ထံ သစ္စာခံသူ ဖြစ်သည်။ ငါတို့ ရုရှားလူမျိုး များအနက် သင်း တစ်ယောက်သာလျှင် အမျိုး၏ဂုဏ်သိက္ခာကို ဖျက်သူ ဖြစ် သည်။ သင်းကြောင့် မော်စကိုမြို့ကြီး ပျက်စီးခဲ့ရပြီ"

မြို့ဝန်ရှော့စတော့ချင်သည် တုန်ယင်ခြင်းမရှိသော အသံဖြင့် ခပ်ကျယ် ကျယ်ပြောလိုက်ပြီးနောက် သနားစဖွယ် မျက်နှာငယ်နှင့် ရပ်နေသော လူငယ်ကို ငုံ့ကြည့်လိုက်၏။ သို့ရာတွင် လူငယ်ကို မြင်သည့်အခါ၌ ပို၍ဒေါသထွက် လာ သကဲ့သို့ လူအုပ်ကြီးဘက်သို့ လှည့်၍ လက်သီး လက်မောင်းတန်းကာ

"ဤသစ္စာဖောက်ကို သင်တို့ ကြိုက်သလို စီရင် ကြလေ။ သင်းကို သင်တို့ လက်သို့ ငါအပ်လိုက်ပြီ" ဟု အော်လိုက်သည်။ .. လူအုပ်ကြီးသည် ငြိမ်ကျသွားကာ တစ်ယောက် တစ်ယောက် ပူးကပ်သွားကြ၏။ ဤသို့ တစ်ဦးကို တစ်ဦး ကပ်လျက် အသက်ရှူ၍ မဝလောက်အောင် ကျပ်လျက် လှုပ်ရှား၍ မရအောင် ပြွတ်သိပ်လျက် ရှိရာမှ ရင်တထိတ် ထိတ်ဖြစ်နေကြ၏။ ရှေ့ဆုံးနားမှအဖြစ်အပျက်ကို အကုန် အ စင် ကြားမြင်နေသူများမှာ မျက်လုံးအပြူးသား ပါးစပ် အဟောင်းသားဖြစ်ကာ နောက်မှ ဖိတိုးနေသောလူအုပ် ကြီးကို တင်း၍ခံထားကြ၏။

"ရိုက်ကြပါတော့လား။ ဘာလုပ်နေကြတာလဲ။ သစ္စာဖောက်ကို ဆုံးမကြပါတော့လား။ အမျိုးဂုဏ် မဖျက် နိုင်အောင် စီရင်ကြပါတော့လား။ ငါ အမိန့်ပေးနေတယ်"

မြို့ဝန်ရော့စတော့ချင်၏အသံသည် ဒေါသကြောင့် တုန်ယင်လျက်ရှိရကား လူအုပ်ကြီးသည် သဲကွဲစွာ မကြား ရ၍ ရှေ့သို့ ပြုံဆင်းလာသည်။ - "မြို့ဝန်မင်းခင်ဗျား ဗာရက်ချာဂျင်၏ ချိုသာနူးညံ့သော အသံသည် တိတ်ဆိတ်ခြင်းကို ဖောက်ထွင်း၍ ထွက်ပေါ်လာ၏။

"မြို့ဝန်မင်းခင်ဗျား။ ကျွန်တော်တို့သည် ဘုရား တစ်ဆူတည်း၏သားများ ဖြစ်ကြပါသည်" ။

ဗာရက်ချာဂျင်သည် မျက်နှာကို မော့လိုက်သည်။ သွေးသည် လည်ပင်းပေါ်ရှိ သွေးကြောကြီးထံသို့ ရောက် လာပြန်ကာ မျက်နှာသည် ရဲတက်လာပြန်၏။ သို့ရာတွင် ဗာရက်ချာဂျင်သည် စကားကိုဆုံးအောင် ပြောခွင့်မရချေ။

"ဟေ့ သင်းကိုစီရင်ကြလို့ ငါ အမိန့်ပေးနေတယ်"

မြို့ဝန် ရော့စတော့ချင်က အော်ပြော၏။ ၎င်း၏ မျက်နှာသည် သားကောင် ဗာရက်ချာဂျင်၏မျက်နှာကဲ့သို့ ဖြူရော်စ ပြုလာ၏။

"ဓားလွယ် အသင့်ပြင်"

လက်ပစ်ဖုံးကိုင် ရဲမက်ဗိုလ်သည် အမိန့်ပေးရင်း ၎င်း၏ဓားလွယ်ကို ဓားအိမ်မှ ဆွဲချွတ်လိုက်၏။

ထိုအခိုက် နောက်က လူအုပ်ကြီးသည် ရှေ့သို့ ဖိတိုးလိုက်ပြန်ရာ ရှေ့နားကလူများသည် ဆင်ဝင်လှေ ကားရင်းသို့ ရောက်လာကြ၏။ ကျောက်သားကဲ့သို့

တင်းမာသောမျက်နှာထားကို ဆောင်လျက်ရှိသည့် အရပ် ရှည်ရှည် အလုပ်သမား လူရွယ်သည် ဗာရက်ချာဂျင်၏ အနီးသို့ ရောက်လာသည်။

"ခုတ်"လက်ပစ်ဗုံးကိုင် ရဲမက်ဗိုလ်၏အသံသည် မရဲတရဲ အားနည်းဖျော့ တော့စွာ ပေါ်ထွက်လာ၏။

လက်ပစ်ဗုံးကိုင် ရဲမက်တစ်ဦးသည် ဒေါသကြောင့် ရှုံ့မဲ့လျက်ရှိသည့် မျက်နှာကြီးဖြင့် အနီးသို့ ကပ်လာကာ ဗာရက်ချာဂျင်၏ခေါင်းကို ခေးသွားအနှောင့် ဖြင့် ရိုက်ချ လိုက်သည်။

"အား"

ဗာရက်ချာဂျင်သည် ကြောက်လန့်တကြားဖြင့် ဘေးပတ်ဝန်းကျင်ကို လှမ်း ကြည့်၏။ မိမိအား အဘယ် ကြောင့် ဤသို့ နှိပ်စက်ကလူ ပြုရလေသနည်းဟု လည်း အံ့သြလျက် ရှိ၏။ လူအုပ်ကြီးထဲမှ အံ့သြသံ၊ ထိတ်လန့်သံ များ ထွက် ပေါ်လာ၏။ "ဘုရား၊ ဘုရား" ဟု ညည်းသူက ညည်းကြ၏။

ဗာရက်ချာဂျင်သည် တစ်ခွန်းမျှ အသံနက်ကြီး ဖြင့် အော်လိုက်၏။ ထို အသံနက်ကြီးကား သေမင်း၏ အသံနက်ကြီး ဖြစ်ပေသည်။ ဤအသံနက်ကြီး ထွက်ပေါ် လာသည်နှင့် ခပ်စောစောကသွေးဆာနေသော လူအုပ် ကြီးကို တားဆီး ထားသည့် ကိုယ်ချင်းစာတရား၊ ကြင်နာ ခြင်းတရားဟူသော တံတိုင်းကြီးသည် ကျိုးပေါက်သွားလေ ပြီ။ ရာဇဝတ်မှုတစ်ခုကို စမိသည်နှင့် အဆုံးတိုင်အောင် ကျူးလွန်ရချေတော့မည်။ စုတ်ထိုးသံတို့သည် လူအုပ်ကြီး ၏တစ်ခဲနက်အော်သံ ကြီးအောက်တွင် ပျောက်ကွယ်သွား ခဲ့လေပြီ။ လှိုင်းလုံးများစွာတို့ သဘော်ာကို လာ ရောက် ပုတ်ခတ်သဖြင့် သဘော်ာကြီးလူးနေရာမှ နောက်ဆုံးတက် လာသော လှိုင်း လုံးတစ်လုံးကို ဒဏ်ချက်ကြောင့် သဘော်ာ ရောပျဉ်သည် ဖြန်းဖြန်းကွဲသွားဘိသို့ နောက်ဆုံးလှိုင်းလုံး တစ်လုံးသည် လူအုပ်ကြီး၏ နောက်ဖျားမှ လိပ်တက်လာ ကာ

ရှေ့တန်းသို့ ရောက်လာ၏။ လက်ပစ်ဗုံးကိုင် ရဲမက် က နောက်တစ်ချက် ခုတ်မည် အပြုတွင် ဗာရက်ချာဂျင် သည် ကြောက်လန့်တကြားအော်ကာ ခေါင်းကို လက်နှစ်ဖက်ဖြင့် မိုး၍ လူအုပ်ကြီးဘက်သို့ လှည့်ပြေးလာ၏။ အလှည့်လိုက်တွင် ဗာရက်ချာဂျင်သည် အရပ်ရှည်ရှည် အလုပ်သမားလူရွယ်နှင့် ဝင်တိုးမိသည်။ အရပ်ရှည်ရှည် လူရွယ်သည် သေးကွေးလှသော ဗာရက်ချာဂျင်၏လည် ပင်းကို ညှစ်ကာ ဒေါသတကြီး အော်ဟစ် ဆဲဆိုလျက်ရှိ၏။ သို့ဖြင့် ၎င်းတို့နှစ်ဦးသည် ပြေးလွှား ရန်းကန်လျက်ရှိသော လူအုပ်ကြီး၏ခြေထောက်များအကြားသို့ လဲကျသွားလေသည်။

ဤတွင် အချို့ကလဲကျနေသော ဗာရက်ချာဂျင် ကို ရိုက်ကြ၏။ အချို့က အရပ်ရှည်ရှည်လူရွယ်ကို ရိုက် ကြ၏။ အချို့မှာလည်း ရုတ်ရုတ်သဲသဲအဖြစ်၌ လူအုပ် ကြီးကြားထဲသို့ လဲကျသွားကြ၏။ အောက်တွင် ပိနေသူ တို့ အော်သံ၊ အရပ်ရှည်ရှည်လူရွယ်ကို ဆွဲထုသူတို့၏ အော်သံများကြောင့် လူအုပ်ကြီးသည် ပို၍ဒေါသထွက်လာ ကာ ပို၍ သောင်းကျန်းလာ၏။ နောက်ဆုံးတွင် လက်ပစ် ဗုံးကိုင် ရဲမက်များက အတင်းဆွဲထုတ်မှ အရပ်ရှည်ရှည် လူရွယ်သည်အပြင်သို့ ရောက်လာ၏။ သို့ရာတွင် သွေးချင်း ချင်းနီကာ သတိလစ်လျက်ရှိလေပြီ။ လူအုပ်ကြီးသည် သွေးဆူနေပြီဖြစ်သည့်အလျောက် ဗာရက်ချာဂျင်ကို ဝိုင်း၍ ထုထောင်း ရိုက်နှက်လျက်ရှိသော်လည်း သားကောင် မှာ မသေသေးချေ။ နောက်မှ လူအုပ်ကြီးက အလယ်သို့ ဖိ ၍တိုးလာသည့်အတွက် ဗာရက်ချာဂျင်ကို ရိုက်နေကြသူများသည် မလှုပ်နိုင် မရှားနိုင်ဘဲ ညပ်လျက် ရှိလေသည်။

“သတ်ဟာ၊ ပုဆိန်နဲ့ ပေါက်သတ်ပါလား။ ချပါ ကွ။ ဘာလုပ်နေတာလဲ ခွေးသား၊ သစ္စာဖောက်။ ခုထက် ထိ မသေသေးဘူးလား။ ပေါက်တူးနဲ့ ချပါလားကွ။ မသေသေးဘူးလား။ ဘာလုပ်နေကြတာလဲ”

နောက်ဆုံး၌ သားကောင်ဗာရက်ချာဂျင်သည် ရုန်း ကန်ခြင်း မပြုတော့ဘဲ ညည်းတွား၍ ငြိမ်ကျသွားတော့မှ လူအုပ်ကြီးသည် သွေးအလိမ်းလိမ်းကပ်ကာ ရုပ်ပျက် ဆင်းပျက်ဖြစ်နေသော ဗာရက်ချာဂျင်၏အလောင်းအနီး တွင် ဝိုင်းအုံနေကြသည်။ အချို့က အံ့အားသင့်ဟန်ဖြင့် ကြည့်ကြ၏။ အချို့က စက်ဆုပ်ရွံ့ရှာဟန်ဖြင့် ကြည့်ကြ သည်။ အချို့က ထိတ်လန့်ဟန်ဖြင့် ကြည့်ကြသည်။ အချို့က သနားကရုဏာသက်ဟန်ဖြင့် ကြည့်ကြ၏။

"ဘုရား၊ ဘုရား လူတွေဟာ တိရစ္ဆာန်တွေနဲ့ အတူတူပါပဲကလား။ ဒီလောက် ဝိုင်းရိုက်ကြရင် မသေဘဲ နေနိုင်ပါတော့မလား"

လူအုပ်ကြီးထဲမှ တစ်ယောက်တစ်ပေါက် ပြောဆို သံများကို ကြားရ၏။

"သနားပါတယ်နော်။ အသက်ကလဲ သိပ်မကြီး ရှာသေးဘူး။ ကုန်သည် သားသမီးထဲက ထင်ပါရဲ့။ လုပ်လဲ လုပ်ရက်တဲ့လူတွေပဲဗျာ။ ပြီးတော့ ဒီသူငယ် ကလေးက အချောင်အသတ်ခံရရှာတာဆိုပဲ။ ဟိုတစ်ယောက်လဲ ခံ လိုက်ရတာ သေလုမြောပါးပဲ။ အင်း၊ လူတွေဟာ အပြစ် မကြောက်ကြဘူး ထင်ပါရဲ့"

စောစောက ဗာရက်ချာဂျင်ကို ဝိုင်းရိုက်ခဲ့သည့် လူအုပ်ကြီးသည် မျက်နှာတွင် သွေးနှင့် ဖုန်အလိမ်းလိမ်း ကပ်၍ လည်ကုပ်ကျိုးကျနေသော ဗာရက်ချာဂျင်၏ အလောင်းကို စိတ်မချမ်းမြေ့စွာကြည့်၍ တစ်ယောက် တစ်ပေါက်ပြော လျက် ရှိကြ၏။

မြို့ဝန်မင်းဘုရား၏အိမ်တော်ဝင်းထဲ၌ အလောင်း ကြီးတစ်လောင်းရှိနေခြင်းသည် အမင်္ဂလာဖြစ်သည်ဟု ယူဆဟန်ဖြင့် ရဲအရာရှိတစ်ယောက်က အလောင်းကို သယ်သွားရန် လက်ပစ်ဖိုးကိုင် ရဲမက်များအား စေခိုင်း လိုက်၏။ လက်ပစ်ဖိုးကိုင် ရဲမက်နှစ်သည် အလောင်းကို အဆစ်ဆစ်အပိုင်းပိုင်းကျိုးနေသော ခြေထောက်နှစ်ဖက်မှ ကိုင်၍ တရွတ်ဆွဲသွားကြ၏။ ကြေမွ၍ ဖုန်အလိမ်းလိမ်း

ကပ်နေသော ခေါင်းတုံးကွက်ကျားနှင့် ခေါင်းသည် မြေ ကြီးပေါ်တွင် တလိမ့်လိမ့်နှင့် ပါသွားလေသည်။ ထိုအခါ ကျမှ လူအုပ်ကြီးသည် ရှဲသွားလေသည်။

ဗာရက်ချာဂျင်အား လူအုပ်ကြီးက အော်ဟစ်ဆဲဆို ၍ ရိုက်နေကြချိန်၌ မြို့ဝန်ရော့စတော့ချင်၏ မျက်နှာသည် သွေးဆုတ်သကဲ့သို့ တဖြည်းဖြည်း ဖြူရော်စ ပြုလာ၏။ မြို့ဝန် ရော့စတော့ချင်သည် ခေါင်းငိုက်စိုက်ချကာ အခန်း ထဲသို့ ပြန်လှည့်ဝင်လာခဲ့၏။ ၎င်းသည် နောက်ဖေးတွင် စောင့်ဆိုင်းလျက် ရှိသည့် ကရထား ဆီသို့ သွားရန်ကိုပင် အမှတ်မရတော့ဘဲ အခန်းထဲတွင် လူးလာခတ်လျက်ရှိ သည်။ မျက်နှာသည် ဖြူလျက်ရှိ၍ အောက်မေးဖျားက လည်း တဆတ်ဆတ်တုန်နေသည်။ မတုန်အောင် ထိန်း ချုပ်ထားသော်လည်း မရချေ။

"မှန်ပါ ဒီဘက်ကို ကြွပါဘုရား။ ဒီဘက်မှာပါ"

မြို့ဝန် ရော့စတော့ချင်၏နောက်ပါးမှ ထိတ်လန့် တုန်လှုပ်လျက်ရှိသော အသံတစ်သံက ဆို၏။

မြို့ဝန် ရော့စတော့ချင်သည် မည်သို့မျှ ပြန်မပြော ဘဲ ထိုအသံညွှန်ပြရာဘက်ဆီသို့ လာခဲ့၏။ အိမ်နောက် ဖေးတံခါးဝ၌ မြို့ဝန် ရော့စတော့ချင်၏ ကရထားသည် ရပ်လျက် ရှိ၏။ အဝေးမှ လူအုပ်ကြီး၏အော်သံများကို ယခုတိုင်ကြားရဆဲ ဖြစ်လေသည်။ မြို့ဝန် ရော့စတော့ ချင်သည် ရထားပေါ်သို့ ခပ်သုတ်သုတ်တက်ထိုင်လိုက် " ပြီး ဆိုကိုနီကီဆင်ခြေဖုံးရှိ မိမိ၏ကျေးတောစံအိမ်သို့ ရထားကို မောင်းစေ၏။

ရထားသည် ကိနစ္စကီလမ်းထဲသို့ ဝင်လာခဲ့ လေရာ လူအုပ်ကြီး၏အော်သံသည်လည်း တဖြည်းဖြည်း ဝေး၍ ကျန်ရစ်ခဲ့လေသည်။ ထိုအခါတွင် မြို့ဝန် ရော့စတော့ချင်သည် နောင်တရစ ပြုလေပြီ။ လက်အောက်ငယ် သားများရှေ့၌ ဣန္ဒြေမဆည်နိုင်လောက်အောင် တုန်လှုပ် ချောက်ချားခဲ့သော မိမိ၏အဖြစ်ကိုလည်း

သတိရလာ၏။ "အိမ်း၊ ပရမ်းပတာလူအုပ်ဟာ ကြောက်စရာလဲ ကောင်း၊ စက်ဆုပ်စရာလဲ ကောင်းပေတာပဲ။ ဝံပုလွေလိုပဲ။ အသား ကို စားရမှ ကျေနပ်တော့တယ်" ဟု ပြင်သစ်လို ပါးစပ်က ရွတ်၏။ "မြို့ဝန်မင်းခင်ဗျား၊ ကျွန်တော်တို့ဟာ ဘုရားတစ်ဆူတည်းရဲ့ သားတွေပါ" ဟူသော ဗာရက်ချာဂျင်၏ စကားများကိုလည်း ကြားယောင်လာကာ ကြက်သီးတွေ ဖြန်းခနဲ ထလာ၏။ သို့ရာတွင် ဤနောင်တမှာ ခဏသာ ဖြစ်၏။ မြို့ဝန် ရော့စတော့ချင်သည် သတ္တိကြောင်လှသော မိမိကို ကြည့်၍ ပြုံး၏။

"ငါ့မှာ တာဝန်တွေ ရှိပါသေးကလား။ အိမ်း၊ ငါ့တာဝန်က တိုင်းသူပြည်သားတွေကျေနပ်အောင် လုပ်ဖို့ ပေကပဲ။ အများကောင်းကျိုးအတွက် ဒီလို ရက်ရက်စက်စက် လုပ်တန်လဲ လုပ်ရမှာပဲ။ အများပြည်သူ ကောင်း ကျိုးအတွက် များစွာသောသားကောင်တို့ကို စတေးတန် စတေးရမှာပဲ" - မြို့ဝန် ရော့စတော့ချင်သည် မိမိ၏သားမယားနှင့် မိမိ၏လုံခြုံရေးကို တွေးတောစိုးရိမ်စပြုလာသည်။ သို့ရာတွင် ရော့စတော့ချင်ဆိုသော လူတစ်ယောက်အနေဖြင့် စိုးရိမ်ကြောင့်ကြခြင်းမျိုး မဟုတ်။ (မြို့ဝန်ရော့စတော့ချင် သည် မိမိကိုယ်မိမိ အများပြည်သူတို့၏ကောင်းကျိုးအတွက် လှူဒါန်းပြီးဖြစ်သည်ဟု ယူဆသည့်အတွက် လူတစ်ယောက် အနေဖြင့် ဘာမျှ စိုးရိမ်ဖွယ်မရှိဟု ယူဆသည်။) မြို့ဝန် တစ်ဦး ဘုန်းတော်ကြီးသော ဇာဘုရင်မင်းမြတ်နှင့် နိုင်ငံ၏ အချုပ်အခြာအာဏာကို လွှဲအပ်ခြင်းခံရသည့် ကိုယ်စား လှယ်တစ်ဦးအနေဖြင့် မိမိ၏လုံခြုံရေးကို စိုးရိမ်ခြင်း ဖြစ်လေသည်။

"အိမ်း၊ ငါဟာ မြို့ဝန် ရော့စတော့ချင် မဟုတ်ဘဲ ဃာမန်လူတစ်ယောက်ဆိုရင်တော့ တစ်မျိုး စဉ်းစားရပေ မပေါ့လေ။ မော်စကိုမြို့ရဲ့ မြို့ဝန်တစ်ယောက်၊ မော်စကို မြို့ရဲ့ စစ်သေနာပတိတစ်ယောက်အနေနဲ့ ဆိုရင်တော့ငါ့ရဲ့ ဂုဏ်သိက္ခာနဲ့ ငါ့အသက်ကို ကာကွယ်ရပေလိမ့်မယ်"

မြို့ဝန် ရော့စတော့ချင်သည် ထူထဲအိစက်သော ရထားထိုင်ဖုံတွင် ဘယ်ညာ ယိမ်းလှုယ်လျက် လိုက်ပါလာ ၏။ လူအုပ်ကြီး၏အော်သံသည် တဖြည်းဖြည်း ဝေး ကျန် ရစ်ခဲ့လေပြီ။ မြို့ဝန်မင်း၏ပြင်ပ ဗဟိဒ္ဓရုပ်သည် တည်ငြိမ်စ ပြုလာခဲ့လေ ပြီ။ သို့ရာတွင် အတွင်းအဇ္ဈတ္တစိတ်ကားတည် ငြိမ်ခြင်း မရှိသေးချေ။ လူသည် ဗဟိဒ္ဓရုပ်၏တည်ငြိမ်မှု ကို ရသည်နှင့် အဇ္ဈတ္တစိတ်၏တည်ငြိမ်ခြင်းကို ရှာကြံ ဖန်တီး မြို့ဖြစ်သည့်အတိုင်း မြို့ဝန် ရော့စတော့ချင်သည် လည်း ၎င်း၏ စိတ်ငြိမ်သက်မှု ကို ဖြစ်စေမည့်အကြောင်း တရားများကို လိုက်လံရှာဖွေ ဖန်တီးလျက် ရှိ၏။ သို့ ဖြင့် မြို့ဝန်ရော့စတော့ချင်သည် ၎င်း၏စိတ်တည်ငြိမ်ခြင်းကို ဖြစ်စေမည့် အကြောင်းတရားများကို တစ်ခုပြီးတစ်ခုရှာဖွေ ဖန်တီးလျက်ရှိရာ။ နောက်ဆုံး၌ ၎င်း၏စိတ်တည်ငြိမ်ခြင်း ကိုဖြစ်စေမည့် ပဓာနအကြောင်းတရားကြီးတစ်ခုကို တွေ့၏။ မြို့ဝန်မင်း၏စိတ်ကို တည်ငြိမ်စေသော ဖြေဆေး ကား အသစ်အဆန်း မဟုတ်ချေ။ ကမ္ဘာကြီး ဖြစ်ပေါ်လာခဲ့၍ လူအချင်းချင်း တစ်ဦးကိုတစ်ဦး သတ်ဖြတ် သော အလေ့ အထ ပေါ်ပေါက်ခဲ့သည့်အချိန်မှစ၍ ယနေ့အထိ လူသတ် မှုကြီးများ ကို ကျူးလွန်ခဲ့သူတိုင်း လက်ကတုံးတောင်ဝှေး ပြုခဲ့ရသော မဟာဩသဓဆေးကြီး ဖြစ်၏။ ထိုမဟာဩသဓ ဆေးကြီးကား အခြားမဟုတ်။ အများပြည်သူ တို့၏ကောင်း ကျိုးအတွက် လုပ်ရသည်ဟူသော အကြောင်းပြချက်ဖြင့် ကိုယ့် ကိုယ်ကို လိမ်လည်နှစ်သိမ့်ခြင်းပြုသော ဖြေဆေး ကြီး ဖြစ်ပေသတည်း။

လောဘတဏှာကို သိမ်းဆည်းတတ်သူတို့အဖို့ "အများပြည်သူတို့၏ ကောင်းကျိုး' ဟူသောစကားသည် ဘာမျှအဓိပ္ပာယ်မရှိလှသော်လည်း လောဘတဏှာ၏အလို ကို လိုက်၍ လူအချင်းချင်းသတ်ဖြတ်သည့် ရာဇဝတ်မှု ကြီးကို ကျူးလွန်ကြသူများအတွက်ကား ထို "အများပြည်သူ တို့၏ ကောင်းကျိုး" ဆိုသော စကားလုံးသည် များစွာ အသုံးဝင်လှပေ၏။ ယခု ထိုစကားလုံးသည် မြို့ဝန်ရော့ စတော့ချင်အတွက် အသုံးဝင်လျက်ရှိလေပြီ။

မြို့ဝန်ရှော့စတော့ချင်သည် ဤသို့ "အများပြည် သူတို့၏ကောင်းကျိုး အတွက်"ဟုတွေးလိုက်သည်နှင့်တစ်ပြိုင် နက် နောင်တတရားရခြင်း မရှိတော့ရုံမျှ မက ဤသို့ အခါအခွင့် သင့်ခိုက် ရာဇဝတ်ကောင် တစ်ယောက်ကို အလွယ်တကူ စီရင်နိုင်ခဲ့သည့်အတွက်ကြောင့် တစ်ကြောင်း၊ သွေးဆာနေသောလူအုပ်ကြီးအား အဆာပြေသွားအောင် စီမံနိုင်ခဲ့ သည့်အတွက်ကြောင့်တစ်ကြောင်း ကိုယ့်ကိုယ်ကို ကျေနပ် အားရလျက် ရှိပေသည်။

"ဗာရက်ချာဂျင်ဟာ သစ္စာဖောက်မှု၊ သူလျှိုမှုနဲ့ အမှုစစ်ဆေးပြီးလို့ သေဒဏ် စီရင်ခြင်းခံထားရတဲ့ ရာဇဝတ် ကောင် တစ်ယောက်ပဲ။ (အမှန်အားဖြင့်ကား အလုပ်ကြမ်း နှင့် ထောင်ဒဏ်ကျခံရမည်ဟု လွှတ်ရုံးတော်က စီရင် ချက်ချထား ခြင်း ဖြစ်၏။) ဒီလို ရာဇဝတ်ကောင်တစ် ယောက်ကို ငါက ချမ်းသာပေးခဲ့လို့ ဘယ် ဖြစ်မလဲ။ ဟော ခုတော့ ငါဟာ ခဲတစ်လုံးတည်းနဲ့ ငှက်နှစ်ကောင် ပစ်ခဲ့ပြီ။ ဓားစာခံတစ်ယောက်ထိုးပေးလိုက်ခြင်းအားဖြင့် သွေးဆာနေတဲ့လူအုပ်ကြီးလဲ အဆာပြေစေခဲ့ပြီး ရာဇဝတ် ကောင်တစ်ယောက်လဲ ပြစ်ဒဏ်ပေးပြီးသားဖြစ်ပြီး အင် မတန်လျော်ကန်တဲ့ အစီအမံပေပဲ"

ဆိုကိုနီကို ဆင်ခြေဖုံးရှိ ကျေးတောစံအိမ်သို့ ရောက်၍ စီမံဖွယ်ရှိသော အိမ်တွင်းရေးကိစ္စများကို စီမံ ခန့်ခွဲပြီးသော် မြို့ဝန်ရှော့စတော့ချင်၏စိတ်မှာ လုံးဝ တည် ငြိမ်လျက် ရှိလေပြီ။

နာရီတစ်ဝက်ခန့်ကြာသောအခါတွင် မြို့ဝန်ရှော့စ တော့ချင်သည် ကရ ထား၍ မြန်ပေ့ဆိုသော ပထမတန်း မြင်းများကို ကေ၍ ဆိုကိုနီကီကွင်းကြီးထဲသို့ ဖြတ် မောင်းလာခဲ့လေသည်။ ဘေဘေကတွေ့ကြုံခဲ့သည်များ ကို စဉ်းစားခြင်းမပြု တော့ဘဲ ရှေ့တွင်ကြုံတွေ့ရမည့်အရာ များကိုသာ တွေး၍ လိုက်ပါလာ၏။ မြို့ဝန် ရှော့စတော့ ချင်သည် စစ်သေနာပတိချုပ်ကူတူဇော့ဗ်ရှိသည်ဟု ကြား သိရသည့်

ယောဇတံတားဆီသို့ သွားနေခြင်း ဖြစ်၏။ စိတ်ထဲ၌လည်း စစ်သေနာပတိချုပ်ကူတူဇော့ဗ်နှင့် တွေ့ဆုံ လျှင် ပြင်းပြင်းထန်ထန်ပြစ်တင်ပြောဆိုရန် စကားလုံးများကို စဉ်းစားလာခဲ့၏။ "မော်စကိုမြို့ကြီးကို စွန့်ခွာခဲ့ရ သောကြောင့် ဖြစ်ပေါ်လာသော အနိဋ္ဌာရုံများ၊ ရုရှားနိုင်ငံ တော်ကြီး ပျက်စီးရခြင်းကြောင့် (မြို့ဝန် ရော့စတော့ချင် ၏စိတ်တွင် မော်စကိုမြို့ ကျဆုံးခြင်းသည် ရုရှားနိုင်ငံ ကြီး ပျက်စီးခြင်း ဖြစ်သည်ဟု ထင်သည်။) ဖြစ်ပေါ်လာ သောအခြေအနေများအတွက် တာဝန်ဟူသမျှသည် ငါ၏ ခေါင်းပြောင်ကြီးပေါ်သို့ ကျရောက်လေပြီဟု ဤကောက် ကျစ်စဉ်းလဲ အဘိုးအိုသေနာပတိကြီး နောင်တရအောင် လုပ်အံ့"ဟု ကြုံးဝါးလိုက်ပါလာ၏။ ဤသို့ဖြင့် စစ်သေနာ ပတိချုပ်ကူတူဇောဗ်အား ပြောမည့်စကားများကို စိတ်ကူး လျက် မြို့ဝန်ရော့စတော့ချင်သည် ကရထားဝဲယာကို သုန်မှုန်စွာကြည့်၍ လိုက်ပါလာလေသည်။

ဆိုကိုနီကိကွင်းကြီးမှာ တိတ်ဆိတ်ခြောက်သွေ့ လျက်ရှိ၏။ ကွင်းတစ်ဖက် အဆုံးရှိ ဇရပ်နှင့် အရူးထောင် ရှေ့၌ သာ အဝတ်ဖြူဝတ်ထားသောလူအချို့ကို မြင်ရ၏။ ၎င်းတို့အနက်အချို့ကား လမ်းလျှောက်လျက်၊ အချို့ကား ခုန် ပေါက် အော်ဟစ်လျက် အချို့မှာ တွေတွေရပ်လျက်  ရှိ ကြ၏။

၎င်းတို့အထဲမှ တစ်ယောက်သည် မြို့ဝန်ရော့စ တော့ချင်၏ရထားဆီသို့ တည့်တည့်ကြီးပြေးလာ၏။ မြို့ဝန် ရော့စတော့ချင် ၎င်း၏ရထားသမား လက်နက်ကိုင် ကိုယ် ရံတော်များသည် လွတ်လာသောအရူးထောင်သားများကို ထိတ်လန့်အံ့သြဟန်ဖြင့် ကြည့်နေကြ၏။ အထူးသဖြင့် မိမိတို့ ရထားရှေ့သို့ တည့်တည့်ကြီး ပြေးလာသော အရူး ထောင်သားကို ကြည့်၍ ထိတ်လန့်လျက် ရှိကြသည်။

ဖိုးရိုးဖားရားအကျဉ်းသားဝတ်စုံကြီးကို ဝတ်၍ သေးကွေးချည့်နဲ့သည့်ခြေနှစ်ဖက်ကို အနိုင်နိုင်သယ်ရင်း ဒယီးဒယိုင်ဖြစ်လျက် ရှိသည့် ထိုအရူးထောင်သားသည် တအားကုန်ပြေးလာရာမှ အနီးသို့ ရောက်သည်နှင့် မြို့ဝန် ရော့စတော့ချင်၏မျက်နှာကို စိမ်းစိမ်းကြီး ကြည့်ကာ အသံ နက်ကြီးဖြင့် လှမ်းအော်ပြီး ရထားကို အရပ်ခိုင်းလျက် ရှိ၏။ အရူးထောင်သား၏သုန်မှုန်သောမျက်နှာသည် ပိန် ချုံးဖြူရော်လျက် ရှိ၏။ မုတ်ဆိတ်မွေးများကလည်း ကျိုး တိုးကျဲတဲပေါက်နေကြ၏။ နန္ဒင်းကဲ့သို့ ဝါထိန်နေသော မျက်သားများအလယ်မှ မည်းနက်ပြူးထွက်နေသော မျက် လုံးများသည် အောက်မျက်ခမ်းအနီး၌ ဂနာမငြိမ်လှုပ်ရှား နေကြ၏။

"ဟေ့ ရပ် ရပ်ကွ။ ပြောနေတာ မကြားဘူးလား" အရူးထောင်သားများက စူးစူးဝါးဝါးအော်လိုက်သည်။ တစ်ဖန် ပါးစပ်ကသာမက လက်ဟန်ခြေဟန်ပြ၍ ပြော ဆိုနေပြန်သည်။

ကရထားဘေးသို့ ရောက်လာသည့်အခါတွင် ထို အရူးထောင်သားသည် ကရထားနှင့် အတူ ပြေးလိုက် လာ၏။

"မင်း ငါ့ကိုသတ်တာ သုံးခါရှိပြီ။ သုံးခါစလုံး ငါ သချိုင်းထဲက ထလာတာကွ။ ငါ့ကို ခဲနဲ့ပေါက်၊ ကား စင်တင်သတ်တာ မင်း မဟုတ်လားကွ။ ဟေ့ မင်း ဘယ် လိုသတ်ပေမယ့် ငါ မသေဘူးကွ။ ငါ မသေဘူး။ ငါ့အရေ တွေကို ဆုတ်ပစ်ပေမယ့် ငါ မသေဘူးကွ။ အရိုးတွန်ပြ မယ်။ သိရဲ့လား အရိုးတွန်ပြမယ်"

အရူးထောင်သားသည် စူးစူးဝါးဝါး အသံနက် ကြီးဖြင့် အော်၍ လိုက်လာ၏။

ထိုအခါ၌ ဗာရက်ချာဂျင်အနီးသို့ လူအုပ်ကြီး ဝိုင်းလာစဉ်ကကဲ့သို့ မြို့ဝန် ရော့စတော့ချင်း၏မျက်နှာ မှာ တစ်မုဟုတ်ချင်း ဖြူရော်လာခဲ့လေပြီ။ မြို့ဝန် ရော့စ တော့ချင်သည် ထိုအရူး၏မျက်နှာကို မကြည့်ရဲတော့ဘဲ ( တခြားသို့ လွှဲလိုက်ပြီး "ဟော့၊ မြန်မြန်မောင်းစမ်း၊ မြန်မြန်မောင်းစမ်း" ဟု ရထားသမားကို တုန်ယင်သော

အသံဖြင့် လှမ်းအော်လိုက်၏။ ကရထားသည် ကောင်းကင် တွင် ပျံသကဲ့သို့ တစ်ဟုန်ထိုး ပြေးလျက်ရှိသော်လည်း မြို့ဝန် ရှော့စတော့ချင်၏နားထဲတွင်ကား သူရူး၏ စူးစူး ဝါးဝါးအော်သံကြီးကို ဖျောက်၍ မရတော့ချေ။ မျက်စိ ထဲတွင်လည်း သွေးချင်းချင်းနီ၍ အထိတ်ထိတ် အလန့်လန့် ဖြစ်လျက်ရှိသော ဗာရက်ချာ ဂျင်၏မျက်နှာကို မြင်ယောင် မိလေသည်။

မြို့ဝန် ရှော့စတော့ချင်သည် ဤအဖြစ်အပျက်ကို တွေ့မြင်ခဲ့သည်မှာ မကြာ သေးရာ ထိုအဖြစ်အပျက်သည် ၎င်း၏အသည်းနှလုံးကို ဓားဖြင့်မွှန်းကာ သွေးတို့ ကို ထုတ်ယူလိုက်သကဲ့သို့ ရှိပေ၏။ ထိုအဖြစ်အပျက်သည် ၎င်း၏စိတ်ထဲမှ တော်တော်နှင့် ဖျောက်၍ ရတော့မည် မထင်ချေ။ ထို့မျှမက ထိုကြောက်စရာ အဖြစ်သည် သူ့ကို သေသည်အထိ တစ္ဆေခြောက်နေဦးမည်သာ ဖြစ်ပေသည်။ "ဒီ အကောင်ကို စီရင်လိုက်ကြလို့ အမိန့်ပေးနေတယ်ကွ" ဟူသော မိမိ၏စကားများ ကိုလည်း ပြန်လည်၍ ကြား ယောင်လျက် ရှိလေသည်။

"ဘာကြောင့်များ ငါ့ပါးစပ်က ဒီစကားတွေ ထွက် သွားရတာပါလိမ့်။ ငါ့နှယ် နော် မိုက်လိုက်ပါဘိ။ ငါကသာ အမိန့်မပေးရင် ဒီလိုဖြစ်မှာ မဟုတ်ဘူး" ဟု တွေး မိ၏။ ဗာရက်ချာဂျင်ကို ဓားဖြင့်ခုတ်သော လက်ပစ်ဖိုးကိုင်ရဲမက် ၏ ထိတ်လန့် တုန်လှုပ်လျက်ရှိသော မျက်နှာနှင့် တကွ မိမိ အား ကြောက်လန့်တကြား ကြည့်ရာ မှ ပြစ်တင်ရှုတ်ချ နေဟန် ရှိသော် ဗာရက်ချာဂျင်၏မျက်နှာကိုလည်း မြင် ယောင် လာပြန်သည်။

"အေးလေ ငါ့ကိုယ်ကျိုးအတွက် လုပ်ရတာမှ မဟုတ်ဘဲ၊ အများပြည်သူရဲ့ ကောင်းကျိုးအတွက် လုပ်ရ ပေတာပဲ။ အင်း သူကလဲ သစ္စာဖောက်၊ လူအုပ်ကြီးက လဲ သွေးဆာ၊ တိုင်းပြည်လဲ အကျိုးရှိတယ်ဆိုတော့ ငါ့မှာလဲ မနေသာပေဘူးပေါ့"

ရုရှားတပ်များကား ယောဇတံတားတွင် စုပြုံတိုး ငွေ့လျက်ရှိဆဲ ဖြစ်၏။ စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် စိတ်ပျက်အားငယ်ကာ မျက်မှောင်ကြီးကုတ်လျက် တံတား အနီး ခုံရှည်တွင် ထိုင်ရင်း လက်တွင်ကိုင်ထားသည့် ကြာ ပွတ်ဖြင့် မြေကြီးကို ထိုးဆွလျက် ရှိ၏။ ထိုအခိုက် * ရထားတစ်စင်းသည် မိမိအနီးမှ တစ်ဟုန်ထိုးဖြတ်သန်း မောင်းနှင်သွားသည်ကို မြင်လိုက်ရ၏။ ခဏကြာသော် စစ်ဗိုလ်ချုပ်ဝတ်စုံကို ဝတ်၍ ဦးထုပ်တွင် ငှက်တောင် စိုက်ထားသည့်လူတစ်ယောက် စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်ထံသို့ လျှောက်လာကာ ပြင်သစ်ဘာသာဖြင့် တစ်စုံ တစ်ရာကို လှမ်းပြောလိုက်၏။ ထိုသူကား အများကောင်း ၊ ကျိုးဆောင်ပုဂ္ဂိုလ်ကြီး မြို့ဝန် ရော့စတော့ချင်ပေတည်း။ မြို့ဝန် ရော့စတော့ချင်က ရှေးဟောင်းမြို့ကြီးဖြစ်သည့် မော်စကိုမြို့ကြီး မရှိတော့ပြီဖြစ်ကြောင်း၊ စစ်တပ်များသာ ကျန်ရစ်ခဲ့ကြောင်း၊ ထို့ကြောင့် မိမိလာရောက်ရခြင်း ဖြစ် ကြောင်းဖြင့် ပြော၏။

"ရန်သူတွေနဲ့ တစ်ချီတစ်မောင်းလောက်တိုက် ပြီးမှ မော်စကိုက ဆုတ်ခွာမယ်လို့ ကိုယ်တော်ကြီးပါးစပ် ကသာ မပြောခဲ့ပေဘူးဆိုရင် အခြေအနေ တစ်မျိုးတစ်ဖုံ ဖြစ်မှာပဲဗျ။ ဒီလိုအဖြစ်မျိုးကိုတော့ မရောက်တန်ပေဘူး။ ခုတော့"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ဆိုလိုသည့် အဓိပ္ပာယ်ကို နားမလည်ဟန်ဖြင့် မြို့ဝန်ရော့စတော့ချင်ကို လှမ်းကြည့်လိုက်၏။ ထိုမျှမက ထိုအချိန်တွင် မြို့ဝန်၏ မျက်နှာအမူအရာ ထူးခြားနေပုံကိုလည်း အကဲခတ်နေ သည်။ မြို့ဝန် ရော့စတော့ချင်သည် မိမိအား စကားတစ်ခွန်း မျှ မပြောဘဲ စိမ်းစိမ်းကြီးကြည့်နေသော စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်ကို ကြည့်၍ စိမ့်လာကာ ပါးစပ်ပိတ်သွားသည်။ စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် မြို့ဝန် ရော့စ တော့ချင်၏မျက်နှာကို စိမ်းစိမ်းကြီးကြည့်နေရာက ခေါင်း ကို ဖြည်းညင်းစွာ ယမ်းလိုက်၍

"ဟုတ်တယ်။ ရန်သူနဲ့ တိုက်ပွဲတစ်ပွဲလောက် မတိုက်ဘဲနဲ့ မော်စကိုကို ကျုပ် အကျမခံဘူး"

ဤစကားကိုပြောဆိုရာ၌ စစ်သေနာပတိချုပ် ကူ တူဇော့ဗ်သည် အခြားကိစ္စများကို တွေးနေ၍လော၊ ထို စကားများသည် ယခုအချိန်ကျမှ ဘာမျှ အရာမထင်သော စကားဖြစ်မှန်းကို သိလျက်နှင့် တမင်ပင် အရွဲ့တိုက်ပြော ဆိုနေခြင်းလော ဆိုသည်ကိုမူ မြို့ဝန် ရော့စတော့ချင် မသိ ချေ။ မြို့ဝန် ရော့စတော့ချင်သည် နောက်ထပ် ဘာမျှ မပြောတော့ဘဲ ခပ်သုတ်သုတ် ထွက်လာခဲ့၏။ ခဏကြာ သော် လွှန်စွာမာနကြီး၍ အာဏာပါဝါမပြရလျှင် အိပ် မပျော်သည့် မော်စကိုမြို့ဝန် မြို့စားကြီး ရော့စတော့ချင် သည် ကြာပွတ်တစ်ချောင်းကို ကောက်ကိုင်ကာ တံတား ဆီသို့ လျှောက်လာခဲ့ပြီးနောက် တံတားဦးတွင် ပိတ်နေ သော အရပ်သား လူည်းများကို ပါဝါအာဏာပြကာ မောင်း ထုတ်နေချေသည်တကား။ အံ့သြဖွယ် ကောင်းလေစွ။

# အခန်း ၂၆

ညနေ လေးချက်တီးအချိန်လောက်၌ ပြင်သစ် ဗိုလ်ချုပ် မူးရတ်၏တပ်များသည် မော်စကိုမြို့တွင်းသို့ ဝင်လျက်ရှိ ကြလေသည်။ တပ်ဦးမှဝင်လာသည့်တပ်များမှာ ဝါတင် ဘတ်မြင်းတပ်များ ဖြစ်၏။ ထိုမြင်းတပ်များ၏နောက်တွင် နေပဲ ပြည်၏ဘုရင်ဘွဲ့ကို ခံယူထားသော ပြင်သစ်ဗိုလ် ချုပ်မူးရတ်သည် ကိုယ်ရံတော်တပ်များ ခြံရံ၍ လိုက်ပါ လာ၏။

အာရဗတ်လမ်းလယ်ရှိ အံ့တော်မူဆင်းတုတော် ကိန်းဝပ်ရာ သုခမ္မာဇရပ်အနီးသို့ ရောက်သော် ပြင်သစ် ဗိုလ်ချုပ်မူးရတ်သည် ခေတ္တမျှ ရပ်နား၍ တပ်ဦးမှ ချီတက် သွားသောမြင်းတပ်များထံမှ ကရင်မလင်နန်းတော်၏အခြေ အနေနှင့် ပတ်သက်သည့် သတင်းကို စောင့်ဆိုင်းနေသည်။

ပြင်သစ်ဗိုလ်ချုပ်မူးရတ်အနီး၌ကား ကျန်ရစ်ခဲ့သော မော်စကိုမြို့သူ မြို့သားများသည် ဝိုင်းအုံလျက်ရှိ၏။ ၎င်းတို့ သည် ဦးထုပ်တွင် ငှက်တောင်များစိုက်လျက် ရင်ဘတ် တွင် ရွှေတံဆိပ်တွေအပြည့် ချိတ်ထားသောဆံရှည်ဗိုလ် မူးရတ်ကို အထူးအဆန်းသဖွယ် ကြည့်နေကြသည်။

“ဒါ ပြင်သစ်ဇာဘုရင်တဲ့လား။ ဂိုက်ကတော့မဆိုး ဘူးဟေ့” ဟူသော တီးတိုးသံများကို ကြားရ၏။

စကားပြန်တစ်ဦးသည် ခပ်လှမ်းလှမ်းမှ ဝိုင်းကြည့် နေသောလူအုပ်ကြီးဆီသို့ မြင်းစီး၍ရောက်လာကာ “နောက်ဆုတ် ခစားကြ။ နောက်ဆုတ်ခစားကြ” ဟု ပြော နေသည်။ စကားပြန်သည် လူအုပ်ထဲမှ ကူလီတစ်ယောက် ကို လှမ်း၍ ကရင်မလင်နန်းတော်နှင့် ဝေးသေးသလောဟု မေးမြန်း၏။ ကူလီသည် စကားပြန်၏ ပို

လန်သံဝဲဝဲ ရုရှား စကားကိုလည်း နားမလည်၊ ရုရှားစကားဖြင့် ပြောဆိုနေ ခြင်းဖြစ်သည်ဟုလည်း မထင်မိဘဲ ကြောင်တိကြောင် တောင်ကြည့်လျက် နောက်လူအုပ်ကြီးထဲသို့ ဆုတ်၍ ပျောက်ကွယ်သွား၏။

ပြင်သစ်ဗိုလ်မှူးရတ်သည် စကားပြန်အနီးသို့ ရောက်လာပြီး ရုရှားစစ်တပ်ကြီး စခန်းချသည့်နေရာကို စကားပြန်အား အမေးခိုင်းပြန်သည်။ ဤတစ်ကြိမ်တွင်မူ လူအုပ်ထဲမှ တစ်ယောက်က စကားပြန်၏ စကားကို နား လည်လိုက်၏။ အားလုံးကပင် တစ်ယောက်တစ်ပေါက် ဖြေကြလေသည်။ ထိုအခိုက် တပ်ဦးမှ တက်သွားသော ပြင်သစ်တပ်ဗိုလ်တစ်ယောက်သည် ပြင်သစ်ဗိုလ် မှူးရတ် ထံသို့ မြင်းစီး၍ရောက်လာကာ ကရင်မလင်နန်းတော် မြို့ရိုးတံခါးများရှေ့၌ မြောင့်များ၊ သစ်တုံးများထောင်၍ ပိတ်ဆို့ထားကြောင်း၊ နန်းမြို့ရိုးတံခါးမှ ချောင်းမြောင်းတိုက်ခိုက်မည် ထင်ရကြောင်းဖြင့် ပြောကြား၏။

"အိမ်"

ပြင်သစ် ဗိုလ်မှူးရတ်သည် ဤသို့မိန့်ကာ ကိုယ်ရံ တော်တပ်ဗိုလ်တစ်ဦးဘက်သို့ လှည့်၍ အမြောက်အသေး စားလေးလက်ကို ရှေ့သို့ ချီတက်စေကာ မြို့ရိုးတံခါးကို ပစ်၍ဖွင့်ရန် အမိန့်ပေးလိုက်သည်။

ဤတွင် ပြင်သစ်ဗိုလ်မှူးရတ်၏နောက်စစ်ကြောင်း ထဲမှ လိုက်ပါလာသည့် အမြောက်လေးလက်သည် ရှေ့သို့ တက်လာကာ အာရဗတ်လမ်းဆီသို့ ချီတက်သွား၏။ ဗောဇဗီဇင်ကာလမ်းထောင့်သို့ ရောက်လျှင် အမြောက်လေး လက်သည် ရပ်တန့်၍ ရင်ပြင်နီဘက်သို့ လှည့်လိုက်သည်။ ပြင်သစ်တပ်ဗိုလ်များသည် အမြောက်လေးလက်ကို နေရာ ယူစေပြီးနောက် မှန်ပြောင်းကိုယ်စီဖြင့် ကရင်မလင် နန်း မြို့ရိုးဆီသို့ မျှော်ကြည့်နေကြ၏။

ကရင်မလင်နန်းတော်ထဲမှ ဝတ်တက် ခေါင်း လောင်းသံများသည် တဒင်ဒင် မြည်ဟည်း လျက်ရှိလေရာ ထိုအသံများသည် ပြင်သစ်တို့ကို အနှောင့်အယှက်ပေး လျက် ရှိ၏။ ပြင်သစ်တို့၏စိတ်တွင် ထိုခေါင်းလောင်းသံများ သည် မိမိတို့အား ခုခံ တိုက်ခိုက်ရန် အချက်ပေးသော ခေါင်းလောင်းသံများဖြစ်သည်ဟု ထင်လျက်ရှိကြ သည်။ ပြင်သစ်ခြေလျင်တပ်သားအချို့သည် ကူတာဖြေတံခါးဆီ သို့ ပြေးတက် သွားကြ၏။ ကူတာဖြေတံခါးရှေ့တွင် ဖြောင့်များ၊ သစ်တုံးများထောင်ထားလျက်ရှိ ရာ ပြင်သစ် တပ်ဗိုလ်တစ်ဦးနှင့် တပ်သားအချို့ ထိုဖြောင့်များ၊ သစ်တုံး များဆီသို့ ပြေးကပ်သွားသည်နှင့် တစ်ပြိုင်နက် မြို့တံခါး တောင်ဘက်ဆီမှ သေနတ်သံနှစ် ချက် မြည်ဟည်းထွက် ပေါ်လာလေသည်။ အမြောက်လေးလက်အနီးတွင် ရပ်နေ သည့် ပြင်သစ်ဗိုလ်ချုပ်တစ်ဦးက ဖြောင့်များအနီးသို့ ကပ် သွားသောတပ်ဗိုလ်အား အော်ဟစ်အမိန့်ပေးလိုက်သည် တွင် တပ်ဗိုလ်နှင့် တပ်သားများသည် ပြန်ပြေးလာ ကြ၏။

မြို့တံခါးဝမှ နောက်ထပ်သေနတ်သံသုံးချက် ထွက်ပေါ်လာပြန်သည်။

တစ်ချက်မှာ ပြင်သစ်တပ်သားတစ်ယောက်၏ ခြေထောက်ကို လာ၍ထိ၏။ ဖြောင့်များ၊ သစ်တုံးများ နောက်မှ လူခပ်ကျဲကျဲဖြင့် မညီမညာအော်ဟစ်လိုက် သည့် ထူးဆန်းသောအော်သံတစ်ခု ထွက်ပေါ်လာ၏။ ထူးဆန်း သောထိုအော်သံ ကို ကြားရသည်နှင့် အမိန့်ပေးသံတစ်ခုကို ကြားလိုက်ရသည့်နှယ် ပြင်သစ် ဗိုလ်ချုပ်နှင့်တကွ တပ်ဗိုလ် များ တပ်သားများ၏မျက်နှာသည် ရွှင်လန်း ထက်သန်သော အသွင်ကိုဆောင်ထားရာမှ ဘေးအန္တရာယ်ကို ရင်ဆိုင်ရန် အသင့်ရှိ သည်ဟူသော ပြတ်သားတင်းမာသည့်အသွင်သို့ ပြောင်းသွားကြ၏။ စစ်သူကြီးအစ တပ်သားအဆုံးရှိသော ပြင်သစ်တို့၏စိတ်၌ ဤနေရာသည် မော်စကို မြို့လယ် ကောင်မဟုတ်ဘဲ သူသေကိုယ်သေ အကြိတ်အနယ်တိုက် ရမည့်စစ်တလင်းကြီး တစ်ခုဟု ထင်မှတ်လာကြ၏။ သို့ဖြင့် ပြင်သစ်များသည် တိုက်ပွဲအတွက်

အဆင်သင့်ပြင်ထား ကြ၏။ ထိုအခိုက် မြို့တံခါးအောက်မှ ထူးထူးဆန်းဆန်း ထွက်ပေါ်လာသော အော်သံသည် ရုတ်တရက် ပျောက် သွားပြန်၏။ ပြင်သစ်အမြောက်များသည် ရင်ပြင်နီကို ဖြတ်၍ တက်လာကြလေပြီ။ အမြောက်တပ်သားများသည် အမြောက်နားခွက်ပေါ်မှ ယမ်းများကို ရှို့ရန် မီးတုတ်များ ကို အဆင်သင့်ပြင်ပြီးကြလေပြီ။ “ပစ်” ဟူသော တပ်ဗိုလ်၏ ( အမိန့်သံနှင့် အတူ တအုန်းအုန်းမြည်သော အမြောက်သံ နှစ်ချက် ရှေ့ဆင့်နောက်ဆင့် ထွက်ပေါ်လာ၏။ အမြောက် ဆံသည် နန်းမြို့ရိုးတံခါးနှင့် ဖြောင့်များ၊ ရင်ကာများကို သွားထိ၏။ မီးခိုးလုံးကြီးနှစ်လုံးသည် ရင်ပြင်နီပေါ်သို့ တက်လာ၏။

အမြောက်သံနှစ်ချက်၏ပဲ့တင်သံသည် ကျောက် သားတို့ဖြင့်ပြီးသော ကရင်မလင်နန်းမြို့ရိုးတစ်ဝိုက်တွင် ဟိန်းသွား၏။ ခဏအကြာတွင် ပြင်သစ်များသည် မိမိ တို့အထက်မှ ထူးဆန်းသောအသံကြီးတစ်သံကို ကြားလိုက် ရ၏။ ထိုအသံကား ကျီးပြိုသံကြီးပေတည်း။ ထောင်ပေါင်း များစွာသောကျီးများသည် မြို့ရိုးဘက်သို့ ပျံတက်လာကာ အတောင်တဖျပ်ဖျပ်ခတ်၍ အော်မြည်လျက် ရှိကြ၏။ ထို ကျီးပြိုသံကြီးနှင့်အတူ နန်းမြို့ရိုးတံခါးထိပ်မှ လူတစ် ယောက်၏ စူးရှစွာ အော်သံသည် ထွက်ပေါ်လာကာ ကျေး တောသားအင်္ကျီကိုဝတ်ထားသည့် ခေါင်းတုံးပြောင်ကြီး နှင့် လူတစ်ယောက်၏သဏ္ဍာန်ကို မီးခိုးများကြားမှ မြင် ရ၏။ ထိုလူသည် သေနတ်တစ်လက်ကိုကိုင်၍ ပြင်သစ် များဘက်သို့ ချိန်လိုက်၏။ ထိုအခိုက် “ပစ်” ဟူသော တပ်ဗိုလ်၏အမိန့်သံ ပေါ်လာပြန်ကာ ကျည်တစ်လုံးထိုး သေနတ်သံများနှင့် အမြောက်နှစ်ချက်သည် တစ်ပြိုင်နက် ထွက်ပေါ်လာ၏။ မီးခိုးလုံးကြီးများသည် နန်းမြို့ရိုးတံခါး ကို ဖုံးသွားကြပြန်၏။

ဖြောင့်များ၊ သစ်တုံးများ၊ ရင်ကာများအနောက်မှ လှုပ်ရှားမှုတစ်ခုမျှ မရှိတော့သောအခါတွင် ပြင်သစ်ခြေလျင် တပ်သားများနှင့် တပ်ဗိုလ်များသည် နန်းမြို့ရိုးတံခါးဆီ သို့ တက်လာခဲ့ကြ၏။ မြို့တံခါးဝမှ မုခ်ဦးထဲ၌ကား အလောင်းလေး

လောင်းနှင့် ဒဏ်ရာရနေသူ သုံးယောက်ကို တွေ့ရ၏။ ကျေးတောသားအင်္ကျီဝတ်ထားသူ နှစ်ယောက် သည် နန်းမြို့ရိုး ခြေရင်းအတိုင်း ဇနာမင်ကာလမ်းဘက် သို့ ထွက်ပြေးကြ၏။

“လမ်းရှင်းလိုက်ပေါ့”

ပြင်သစ်တပ်ဗိုလ်တစ်ဦးသည် မြို့ရိုးတံခါးရှေ့မှ ပြောင့်များ၊ သစ်တုံးများ၊ ရင်ကာများနှင့် အလောင်းများ ကို ရှင်းစေ၏။ ပြင်သစ်တပ်များသည် ဒဏ်ရာရသူများကို ပြောင်းရွှေ့ကာ အလောင်းများကို ရင်တာကတုတ်ထဲသို့ ပစ်ချလိုက်ကြသည်။

ပြင်သစ်တပ်ကြီးကို ကရင်မလင် နန်းမြို့ရိုးတွင်းမှ သေနတ်ကလေးသုံးလေးလက်ဖြင့် ခုခံတိုက်ခဲ့ကြသော ထိုလူတစ်သိုက်သည် မည်သည့်လူစားများနည်း။ ၎င်းတို့ အကြောင်းကို မည်သူမျှ မသိကြချေ။ ၎င်းတို့ အကြောင်းနှင့် စပ်လျဉ်း၍ ရာဇဝင်ကျမ်းများ၌ တွေ့ ရသမျှမှာ “လမ်းရှင်း လိုက်ပေ့” ဟူသော ပြင်သစ်တပ်ဗိုလ် ၏စကားလုံးများသာ ဖြစ်လေသည်။ ၎င်းတို့၏လှုပ်ရှားမှုသည် ဤစကားလုံးကလေးများ၏နောက်ကွယ်၌ နိဂုံး ကမ္ပတ်သို့ရောက်ကာ ဇာတ်မြုပ်သွားခဲ့ရလေသည်။ ပြင်သစ် တပ်သားများသည် အလောင်းများကို ရင်ကာကတုတ်များ ထဲသို့ ပစ်ချပြီး နောက် ပုပ်စော်နံမည်စိုးသည့်အတွက် နောင်တွင် တစ်နေရာ သို့ ရွှေ့ပစ်လိုက်ကြ၏။ ၎င်းတို့နှင့် စပ်လျဉ်း၍ ပြင်သစ် ရာဇဝင်ဆရာ သိုင်းလာ့စ်တစ်ဦးတည်းကသာလျှင် “ဤ လူဆိုး တစ်စုသည် နန်းမြို့ရိုးကြီးကို သိမ်းပိုက်ထားကြပြီးနောက် လက်နက်တိုက်မှ လက်နက်များကို ထုတ်ယူ၍ ပြင်သစ်တပ်များကို ပစ်ခတ်ကြ၏။ အချို့မှာ ခါးလွတ် များကိုင်ထား ကြ၏။ ဤလူဆိုးတစ်သိုက်ကို နန်းတော်ထဲမှ ဆေးကြော သုတ်သင်ပစ်ရလေသည်”ဟု ရေးခဲ့၏။ ၎င်းတို့ နှင့်

စပ်လျဉ်း ၍ အကျယ်တဝင့်ရေးသား ဖော်ပြချက်ဟူ၍ ဤသုံးလေး ကြောင်းမျှရှိသော စာပုဒ်ကလေးသာ ဖြစ်လေ သည်။

ပြင်သစ်တပ်သားများသည် မြို့ရိုးတံခါးဝတွင် ရှိသော မြောင့်များ၊ ရင်ကာများ၊ သစ်တုံးများ၊ အလောင်း များကို ဖယ်ရှားပြီးဖြစ်ကြောင်းဖြင့် ပြင်သစ်ဗိုလ်ချုပ်မှူး ရတ်ထံ အစီရင်ခံကြ၏။ ထို့နောက်၌ ပြင်သစ်တပ်များ သည် ကရင်မလင် နန်းမြို့ရိုးထဲသို့ ဝင်ရောက်လာကြကာ လွှတ်ရုံးတော်ရှေ့ကွက်လပ်တွင် တပ်စွဲလိုက်ကြသည်။ ပြင်သစ်တပ်သားများသည် ထင်းအလို့ငှာ ကုလားထိုင် များ၊ ထိုင်ခုံများကို လွှတ်ရုံးပြတင်းဝမှ အောက်သို့ ပစ် ချကာ ကွက်လပ်ထဲတွင် မီးဖိုကြ၏။

အခြားတပ်များသည်လည်း ကရင်မလင်နန်းမြို့ရိုး ကို ဖြတ်၍ ချီတက်လာခဲ့ကြပြီးနောက် မိုရိုစေကာလမ်း၊ လူဗျန်ကာလမ်းနှင့် ပေါက်ကရောကာလမ်း တစ်လျှောက်၌ အသီးသီး တပ်စွဲကြ၏။ တချို့တပ်များက ဗောဇဗီဇင်ကာ လမ်း၊ နီကိုစကီလမ်းနှင့် ဗာစတွိုင်းလမ်းတစ်လျှောက်တွင် စခန်းချကြ၏။ အိမ်များအားလုံးမှာ အိမ်ရှင်ဟူ၍ မရှိ တော့သဖြင့် ပြင်သစ်တပ်များမှာ ခါတိုင်းကဲ့သို့ လူခွဲ၍ နေရာချစရာ မလိုတော့ချေ။ တပ်စခန်းတစ်ခုတွင် စခန်းချ သကဲ့သို့ ကိုယ်ကြိုက်ရာအိမ်များတွင် အမြိုင်သား တက် နေကြသည်။

ပြင်သစ်တပ်များမှာ စုတ်ပြတ်လျက် ရှိလေပြီ။

ငတ်မွတ်လျက်ရှိလေပြီ။ နွမ်းနယ်လျက်ရှိလေပြီ။ တပ်သား ဦးရေမှာလည်း သုံးပုံတစ်ပုံမျှသာ ကျန်ခဲ့လေပြီ။ သို့သော် လည်း ထိုစစ်တပ်ကြီးသည် မော်စကိုမြို့ကြီးထဲသို့ စနစ် တကျတန်းစီ ဝင်ရောက်လာခဲ့လေသည်။ ပြင်သစ်စစ်တပ် ကြီးသည် အားအင်ကုန်ခမ်း၍ အစာရေစာငတ်ပြတ်လျက်ရှိ သည့်တိုင်အောင် တိုက်ပွဲဝင်နိုင်စွမ်း၊ ခြိမ်းခြောက်နိုင်စွမ်း ရှိသော စစ်တပ်ကြီးတစ်တပ်ပင် ဖြစ်နေသေးသည်။ သို့ ရာတွင် ပြင်သစ်စစ်တပ်ကြီးသည် လူစုခွဲ၍ အိမ်အသီးသီး သို့ ဝင်ရောက်

ရပ်နားလိုက်ကြသည်နှင့် တစ်ပြိုင်နက် ထို စစ်တပ်ကြီးသည် စစ်တပ်ကြီးတစ်တပ် အဖြစ်မှ ရွှေ့ လျော ခဲ့လေပြီ။ တပ်ရင်းအသီးသီးသည် လူသူကင်းမဲ့သော လူ ချမ်းသာများ၏အိမ်များထဲသို့ ရောက်သွားကြသည်နှင့် တစ်ပြိုင်နက် စစ်တပ်ကြီး အဖြစ်မှ စုတေခဲ့လေပြီ။ စစ်သား လည်း မမည်၊ အရပ်သားလည်းမဟုတ်တော့ဘဲ လုယက် သောင်းကျန်းသူများအဖြစ်သို့ ရောက်လာခဲ့လေပြီ။ နောက် ရက်သတ္တ ငါးပတ်ကြာ၍ ၎င်းတို့ မော်စကိုမှ ထွက်သွား ကြသောအခါ၌ကား ပြင်သစ် များသည် စစ်တပ်ကြီးတစ် တပ်အဖြစ် ပေါင်းစည်း၍ မရတော့ချေ။ သောင်းကျန်း လုယက်လျက်ရှိသော စက်ဆုပ်ဖွယ်လူအုပ်ကြီးတစ်အုပ် ဖြစ်လာခဲ့လေပြီ။ အသုံးဝင်မည်၊ အဖိုးတန်မည်ထင်ရသော ပစ္စည်းတို့ကို သယ်ဆောင်သွားသည့် လူဆိုးဂိုဏ်းကြီး တစ်ဂိုဏ်းသာ ဖြစ်ခဲ့လေပြီ။ ၎င်းတို့၏ရည်ရွယ်ချက်သည် လည်း အလာတုန်းကကဲ့သို့ မော်စကိုမြို့ကို သိမ်းပိုက်ရေး ရည်ရွယ်ချက် မဟုတ်တော့ဘဲ ဖောက်ထွင်းရသမျှ ပစ္စည်း ကို သယ်ဆောင်သွားရေးသာ ဖြစ်ခဲ့လေပြီ။ နောက် တစ် ကောင်သည် အဝကျဉ်းသောရေတစ်ကောင်းထဲသို့ လက် နှိုက်၍ သစ်သီးများ ကို လက်ဖြင့် ဆုပ်ယူပြီးနောက် ပြန် ထုတ်ရာ၌ လက်ကိုလည်း နှုတ်၍မရ၊ လက်သီးဆုပ်ကို ဖြေ၍ သစ်သီးများကိုလည်း လွှတ်မချရက်ဘဲ အဆုံး၌ ပျက်စီး ခြင်းသို့ ရောက်ရသည့်နည်းတူ ပြင်သစ်တို့သည် လည်း မော်စကိုမြို့မှထွက်ခွာ သောအခါ၌ လုယက်ဖောက် ထွင်းလာသည့်ပစ္စည်းများကို သယ်ယူခြင်းလည်း မ ပြုနိုင်၊ စွန့်ပစ်ခဲ့ရမှာကလည်း သစ်သီးများကို လွှတ်ချ၍ လက် ကို ပြန်ထုတ်ရမည့် ပျောက်သဖွယ်ဖြစ်လျက်ရှိသဖြင့် အဆုံး တွင် ပျက်စီးခြင်းသို့ ရောက်ရတော့မည် ဖြစ်လေသည်။ ပြင်သစ်တပ်ရင်းအသီးသီးတို့ မော်စကိုဆင်ခြေဖုံးအသီးသီး သို့ ဝင်ရောက်လာပြီးနောက် ဆယ်မိနစ်ခန့်ကြာသောအခါ ၌ကား စစ်သားဟူ၍လည်း မရှိတော့ချေ။ စစ်ဗိုလ်ဟူ၍ လည်း မရှိတော့ချေ။ စစ်ဝတ်စုံဝတ်၍ စစ်ဖိနပ်စီးထား သည့် စက်ဆုပ်ဖွယ်လက်နက်ကိုင် လူအုပ်ကြီးတစ်အုပ် ဖြစ်လာ ခဲ့လေပြီ။ အချို့ သည် အိမ်ကြီးအိမ်ကောင်းများထဲ၌ လမ်း လျှောက်ကြ၊ ရယ်မောကြ၊ နောက်

ပြောင်ကြဖြင့် ဖြစ် ချင်တိုင်း ဖြစ်လျက် ရှိလေပြီ။ အချို့သည် မြေတိုက်များ၊ ပစ္စည်းသိုလှောင်ခန်းများ၌ စားနပ်ရိက္ခာများကို အငမ်းမရ ရှာဖွေလုနှင်လှောစားသောက်ကာ ပရမ်းပတာဖြစ်လျက် ရှိလေပြီ။ အချို့သည် ရထားတဲများ၊ မြင်းဇောင်းများကို အလုအယက်ရိုက်ချိုးဖွင့်ကာ တွေ့သမျှမြင်သမျှကို လု ယက်လျက် ရှိလေပြီ။ အချို့သည် မီးဖိုများထဲ၌ အကျီ လက်မောင်းကိုပင့်လျက် မီးမွှေးလျက်၊ မုန့်နယ်လျက်၊ မုန့်ဖုတ်လျက်၊ ချက်ပြုတ်လျက် စည်းမဲ့ကမ်းမဲ့ဖြစ်လျက် ရှိလေပြီ။ အချို့သည် ကလေးများကို ခြောက်လှန့်လျက်၊ မိန်းမများကို နောက်ပြောင်လျက်၊ ညစ်ညမ်းစွာ ပြောဆို လျက်၊ အထိန်းအကွပ်မဲ့လျက် ရှိလေပြီ။ အိမ်များ၊ ဈေး ဆိုင်များ၌ ဤသို့သောလူများဖြင့် ပြည့်နှက်လျက်ရှိလေပြီ။ သို့ရာတွင် စစ်တပ်ဟူ၍ မရှိတော့ချေ။

ထိုနေ့က ပြင်သစ်တပ်မှူးများသည် ၎င်းတို့တပ် သားများအား မြို့တွင်းသို့ သွားလာခြင်း မပြုကြရန်၊ မြို့သူ မြို့သားများအား နှိပ်စက်ညှဉ်းပန်းခြင်း မပြုကြရန်၊ လုယက်ခြင်း မပြုကြရန် အမိန့်များကို တစ်ခုပြီး တစ်ခု ထုတ်ပြန်တားမြစ်ထားကြ၏။ ထိုနေ့ညနေ၌ တပ်များ အားလုံးတွင်လည်း အမှတ်စဉ်စာရင်းခေါ်၍ လူစစ်စေ၏။ သို့ရာတွင် တပ်မှူးများက ဤသို့ တင်းကျပ်စွာ ကွပ်ကဲ သော်လည်း တစ်ခါက စစ်တပ်ကြီးတစ်တပ်အဖြစ် ပေါင်း စည်းခဲ့သော ပြင်သစ်များသည် များစွာသော စားနပ်ရိက္ခာ များ၊ အသုံးအဆောင်များပြည့်နှက်လျက်ရှိ၍ လူသူကင်းမဲ့သော မော်စကိုမြို့ကြီးထဲ၌ ဥဒဟိုပြန့်ကျဲလျက် ရှိလေ သည်။ နွားငတ်တစ်အုပ်သည် မြက်သစ်ပင်တို့ကင်းမဲ့သော ကျောက်စရစ်ကုန်းတစ်ကုန်းကို ဖြတ်သန်းသွားစဉ် တစ်စု တည်းရှိခဲ့သော်လည်း စိမ်းလန်းစိုပြည်သော စားကျက်တစ်ခု ထဲသို့ ရောက်သည်၌ ထိန်းမနိုင် သိမ်းမရတော့ဘဲ တစ် ကောင်စီ တစ်စုစီ ကွဲပြားသွားသကဲ့သို့ ပြင်သစ်စစ်တပ် ကြီးများသည်လည်း အစာရေစာပေါများကြွယ်ဝသော မြို့ ကြီးထဲသို့ ရောက်သည်နှင့် တစ်စုစီ တစ်ယောက်စီ ပြန့်ကျဲ သွားလေပြီ။

မော်စကိုမြို့ကြီးထဲ၌ လူသူဟူ၍ မရှိတော့ချေ။ ရေသည် သဲမြေပေါ်၌ လျှင်မြန်စွာပျံ့နှံ့သွားသည့်ပမာ ပြင်သစ်တပ်သားများသည်လည်း ကရင်မလင်နန်း မြို့ရိုး ထဲမှ တစ်ဆင့် တစ်မြို့လုံးသို့ စီးထွက်ပျံ့နှံ့လျက် ရှိ၏။ မြင်းတပ်များသည် လူသူကင်းမဲ့သော ကုန်သည်တစ်ဦး၏ အိမ်ထဲသို့ ဝင်ရောက်လာကြ၍ မိမိတို့မြင်း များထားနိုင် သည်ထက် ကျယ်ဝန်းသောမြင်းဇောင်းများကို တွေ့သော် လည်း ကျေနပ်တင်းတိမ်ခြင်း မရှိကြသေးဘဲ ထို့ထက် ကောင်းမွန်သောအိမ်များကို တစ် အိမ်တစ်အိမ် ရှာဖွေ လျက် ရှိကြ၏။ တပ်သားများစွာတို့သည် အိမ်ကြီး အိမ် ကောင်းများကို ခွဲဝေယူကြကာ ၎င်းတို့၏အမည်များကို ချိတ်ဆွဲထားကြ၏။ အိမ် အဝေမတည့်သဖြင့် တပ်သားချင်း၊ တပ်ခွဲချင်း သတ်ပုတ်တိုက်ခိုက်မှုများပင် ဖြစ် သေး၏။ အချို့တပ်သားများကား အိမ်များပေါ်သို့ တက်ရောက်နေ ထိုင်ခြင်းမပြုမီ မြို့တွင်းသို့ လှည့်လည်ကာ မြို့ထဲ၌ လူ တစ်ယောက်မျှ မရှိဟု သိသည်နှင့် အဖိုးတန်ပစ္စည်းများ ရှိမည်ထင်ရသောနေရာများသို့ အပြေးအလွှားသွားရောက်၍ ယူငင်ကြသည်။ တပ်ဗိုလ်များသည် ၎င်းတို့တပ်သားများ နောက်သို့ လိုက်၍ ထိန်းသိမ်းကွပ်ကဲကြသေးသော်လည်း နောက်ဆုံး၌ ၎င်းတို့ကိုယ်တိုင်ပင် လောဘဇောတိုက်ကာ ဖောက်ထွင်းလုယူကြသည်။ ရထားတန်းရှိ ရထားဆိုင်များ ၌ကား ရထားအများအပြား ကျန်ရစ်ခဲ့ကြ၏။ ဗိုလ်ချုပ် များသည် ရထားတန်းသို့ စုပြုံရောက်လာကြကာ နှစ်ထပ် ပေါင်းမိုးနှင့် ရထားများ၊ ကရထားများကို စိတ်ကြိုက် ရွေးယူကြသည်။ မြို့တွင် ကျန်ရစ်ခဲ့သူအချို့ကား လုယက် ခြင်းမခံ ရအောင် ပြင်သစ်တပ်မှူးများကို အိမ်ပေါ်သို့ ဖိတ် ခေါ်၍ တင်ထားကြ၏။ . မြို့ ထဲ၌ အဖိုးတန်ပစ္စည်းအမြောက်အမြား ရှိနေ သေးသဖြင့် ဖောက်ထွင်းလုယက် လိုက်ကြသည်မှာ အတော မသတ်တော့ချေ။ ပြင်သစ်တို့ တပ်စွဲထားသော ရပ်ကွက် များအပြင် တပ်စွဲခြင်း မပြုသေးသော ရပ်ကွက်များလည်း ရှိသေးရာ ပြင် သစ်တပ်သားများသည် ထိုရပ်ကွက်များ၌ သည့်ထက် အဖိုးတန်ပစ္စည်းများ ရှိလိမ့်

ဦးမည်ဟူသော မျှော်လင့်ချက်ဖြင့် ထိုရပ်ကွက်များထဲသို့ ရောက်သွားကြ ပြန်သည်။ ဤသို့ဖြင့် ပြင်သစ်စစ်တပ်များသည် မြို့စွန်၊ မြို့ဖျား၊ လမ်းကြို လမ်းကြား၊ လမ်းသေး လမ်းမွှားသို့ တိုင် ရောက်လာခဲ့လေသည်။

သွေ့ခြောက်သောမြေကြီးပေါ်သို့ ရေသွန်လိုက် သည့်အခါ၌ သွေ့ခြောက် သောမြေကြီးလည်း ပျောက်၊ ရေလည်း ပျောက်၍ ရွှံ့ဖြစ်ပေါ်လာသကဲ့သို့ အစာရေစာ ပေါများ၍ လူသူကင်းမဲ့သော မြို့ကြီးတစ်မြို့ထဲသို့ ငတ် ပြတ်လျက်ရှိ သော စစ်တပ်ကြီးတစ်တပ် ဝင်ရောက်လာ သောအခါ၌ စစ်တပ်ကြီးလည်း ပျောက်၊ မြို့ကြီးလည်း ပျောက်ကာ မီးရှို့မှုများနှင့် လုယက်ဖောက်ထွင်းမှုများသာ ဖြစ်ပေါ်လာခဲ့လေသည်။

မော်စကိုမြို့ကြီး မီးလောင်ပြာကျရခြင်းသည် မော်စကိုမြို့ဝန် ရော့စတော့ ချင်၏ ရက်စက်ပြင်းထန်သော ဝံသာနုစိတ်ဓာတ်ကြောင့်ဖြစ်သည်ဟု ပြင်သစ်များ က ဆို ကြ၏။ ရုရှားများကလည်း ပြင်သစ်တို့၏ရက်စက် ရိုင်းပြ မှုကြောင့် ဤသို့ ဖြစ်ရသည်ဟု ဆိုကြပြန်၏။ အမှန်၌ ကား မည်သူကြောင့်မျှ မဟုတ်ချေ။ လူ ပုဂ္ဂိုလ်တစ်ယောက်၊ ( သို့မဟုတ် လူတစ်စုကြောင့် မဟုတ်ချေ။ သစ်ဝါးစသည့် လောင်စာများဖြင့် ဆောက်လုပ်သော မြို့တစ်မြို့သည် တစ်နေ့တွင် မလွှဲမရှောင် သာ မီးလောင်ပြာကျသည့်အဖြစ် သို့ ရောက်ရသည့်နည်းတူ သစ်ဝါးတို့ဖြင့်သာပြီး သော မော်စကိုမြို့ကြီးသည်လည်း မရှောင်သာ မလွှဲသာ လောင်ခဲ့ ရခြင်း ဖြစ်လေ သည်။ (အချို့ကမူ ထိုစဉ်က မော်စကိုမြို့ ၌ ခေတ်မမီသော မီးသတ်စက်အလုံးတ စ်ရာ့သုံးဆယ်မျှ သာရှိသဖြင့် မနိုင်နင်းသောကြောင့် လောင်ရသည်ဟု ဆိုကြသေး သည်။ ဤအချက်သည်လည်း အကြောင်း မဟုတ်ပါ။ မီးသတ်စက် မည်မျှရှိစေကာ မူ သစ်ဝါးလောင် စာတို့ဖြင့် ပြီးသော မြို့တစ်မြို့သည် တစ်နေ့၌ လောင်ရ မည်သာ ဖြစ်ပါသည်။) အမှိုက်ပုံတစ်ပုံပေါ်သို့ မီးပွား များ နေ့စဉ်ရက်ဆက်ကျဖန်များလတ် သော် ထိုအမှိုက်ပုံ သည် မီးလောင်ရသကဲ့သို့ မော်စကိုမြို့ကြီးသည်လည်း ဤ

နည်းနှင်နှင် မီးလောင်ရခြင်းသာ ဖြစ်လေသည်။ သစ်ဝါး စသည့် လောင်စာတို့ဖြင့် ဆောက်လုပ်ထားသော မြို့တစ်မြို့ သည် အိမ်စေ့တက်စေ့နေထိုင်သူတို့နှင့် အုပ်ချုပ်ရေးအဖွဲ့ လည်း ရှိစဉ်အခါများ၌ပင် မီးလောင်မှုများ နေ့စဉ်နှင့် အမျှ ဖြစ်ပွားတတ်သေးရာ မော်စကိုမြို့ကဲ့သို့ မြို့သူ မြို့ သားတို့စွန့်ခွာထွက်ပြေးကြ၍ ဆေးတံသောက်သူ၊ ဆေး လိပ်သောက်သူ၊ လွှတ်ရုံးကုလားထိုင်များကို ချိုးဖဲ့မီး ဆိုက် သူ၊ လက်သရမ်းသူ၊ တစ်နေ့လျှင် နှစ်ကြိမ် သုံးကြိမ် ချက်ပြုတ်စားသောက် သူစသဖြင့် မတစ်ထောင်သားတို့ ပါဝင်သော စစ်တပ်ကြီးတစ်တပ် တပ်စွဲထား သည့် မြို့တစ် မြို့အဖို့ကား ဘယ်မှာလျှင် ဆိုဖွယ်ရာ ရှိမည်နည်း။ စစ် မက် ငြိမ်းချမ်းသော ကာလများ၌ပင် စစ်တပ်တစ်တပ် စခန်းချလျက်ရှိသည့် ဒေသတစ် ခု၌ မီးလောင်မှုများ ဆတက်ထမ်းပိုး တိုးလာတတ်သေးလျှင် လူသူကင်းမဲ့၍၊ သစ်သားအိမ်တို့ဖြင့်ပြီး နိုင်ငံခြားစစ်သားများ သိမ်းပိုက် တပ်စွဲထားသော မြို့တစ် မြို့အဖို့ အဘယ်မှာလျှင် ဆိုဖွယ်ရှိ တော့မည်နည်း။ သို့ဖြစ်ရကား မော်စကိုမြို့ကြီး မီးလောင် ပြာကျရခြင်းအတွက် မြို့ဝန် ရော့စတော့ချင်၏ရက်စက် ပြင်းထန်သော ဝံသာနုစိတ်ဓာတ်ကိုလည်း အပြစ်ဆိုဖွယ် မရှိ။ ပြင်သစ်တို့၏ရက်စက်ရိုင်းပျမှုကို လည်း အပြစ်ဆို ဖွယ်မရှိ။ မော်စကိုမြို့သည် စစ်သားတို့၏ ဆေးတံများ၊ မီးဖိုများ၊ မီးပုံများ၊ မိမိတို့ ပိုင်ဆိုင်ခြင်းမရှိသော အိမ်များ ပေါ်တွင် တက်ရောက်နေထိုင်ကြ သည့် ရန်သူ စစ်သား များ၏ နမော်နမဲ့နိုင်မှုများကြောင့် မီးလောင်ပြာကျခဲ့ရ ခြင်း သာ ဖြစ်လေသည်။ အကယ်၍ တမင် မီးရှို့မှုများ ရှိခဲ့သည်ထားဦး။ (ကျွန်ုပ် သဘောတွင်မူ တမင်မီးရှို့မှုများ ရှိလိမ့်မည် မထင်ပါ။ မည်သူကမျှ အိမ်များကို တမင် တကာ မီးရှို့ကြလိမ့်မည် မဟုတ်ပါ။ မီးတုတ်ပစ်ခြင်းသည် များစွာ အန္တရာယ်ကြီး၍ ဒုက္ခများလှသောအလုပ်ဖြစ်ရာ ထိုအလုပ်မျိုးကို မည်သူကမျှ ဒုက္ခ ခံ၍ လုပ်ကြမည် မထင်ပါ။) ထိုမီးရှို့မှုများသည် မော်စကိုမြို့ မီးလောင်ရ ခြင်း၏အကြောင်းရင်းဟု မယူဆနိုင်ချေ။ အများပြည်သူ တို့ စိတ်ဓာတ်ချောက်ချား

စေရန်ဟူသော ရည်ရွယ်ချက် ဖြင့် မီးရှို့မှုများ မရှိဘဲနှင့်လည်း သစ်ဝါးတို့ဖြင့် ပြီးသော မော်စကိုမြို့ကြီးသည် မီးလောင်ရမည်သာ ဖြစ်လေသည်။

ပြင်သစ်များက မော်စကိုမြို့ မီးလောင်ရခြင်းသည် မြို့ဝန် ရော့စတောချင်၏ ရက်စက်ကြမ်းကြုတ်မှုဟု မည်မျှ စွပ်စွဲကြသည်ဖြစ်စေ၊ ရုရှားများကလည်း လူရမ်းကား လူဆိုးဓားပြ ဘိုနာပတ်ကြောင့် ဖြစ်ရသည်ဟု မည်မျှ စွပ်စွဲကြသည်ဖြစ်စေ နောင်တွင် ရုရှားများက မော်စကို မြို့ကို မီးရှို့ခဲ့သူမှာ အနိုင်မခံ အရှုံးမပေးသော စိတ်ဓာတ် ဖြင့် ရဲရဲတောက်သတ္တိပြောင်မြောက်ကြသော ရုရှားပြည်သူ များ ဖြစ်သည်ဟု မည်မျှ ကြွားလုံးထုတ်ကြသည် ဖြစ်စေ ထိုအကြောင်းအရာများသည် မော်စကိုမြို့ မီးလောင်ခံရ ခြင်း၏ နိမိတ္တအကြောင်းတရားများ မဟုတ်ကြချေ။ ဟုတ် လည်း မဟုတ်နိုင်ချေ။ ပိုင်ရှင်ကင်းမဲ့၍ သူစိမ်းတစ်ရံဆံ များဝင်ရောက် နေထိုင်လျက် စည်းမဲ့ကမ်းမဲ့ ချက်ပြုတ် စားသောက်ခွင့် ပြုထားသော ရွာတစ်ရွာ၊ အလုပ်ရုံတစ်ရုံ ( သို့မဟုတ် အိမ်တစ်အိမ်သည် တစ်နေ့တွင် မီးလောင်ကျွမ်း သည့် နည်းတူ မော်စကိုမြို့သည်လည်း ဤနည်းဖြင့် မီး လောင်ပြာကျရခြင်းသာ ဖြစ်လေသည်။ မော်စကိုမြို့ကို မီးရှို့သူမှာ မော်စကိုမြို့သူ မြို့သားများဖြစ်သည်ဟု ဆိုကြ ၏။ မှန်ပါသည်။ မော်စကိုမြို့ကို မီးရှို့သူ များမှာ မော် စကို မြို့သူမြို့သားများပင် ဖြစ်ပါသည်။ သို့ရာတွင် မြို့ တွင်း၌ ကျန်ရစ်သူတို့က မီးတင်ရှို့ကြခြင်း မဟုတ်ချေ။ မြို့ကို စွန့်၍ ထွက်ပြေးသူတို့က (ဤသို့ မြို့ကို စွန့်ခွာ ထွက်ပြေးခြင်းဖြင့်) မီးသင့်လောင်စေခဲ့ခြင်းသာ ဖြစ်လေ သည်။ ရန်သူတို့ ဝင်ရောက်သိမ်းပိုက်သည့် အချိန်တွင် မော်စကိုမြို့သည် ဘာလင်၊ ဗီယင်နာစသည့်မြို့များကို သို့ အကောင်း ပကတိတည်ရှိနေသည် မဟုတ်ချေ။ မြို့သူ မြို့သားများက မြို့ကိုလည်း အပ်ခြင်းမပြု၊ သပြေပန်း ရေချမ်းဖြင့် ဆီးကြိုခြင်းလည်း မပြုဘဲ မြို့ကို စွန့်ခွာ ထွက်ပြေးကြသည့်အတွက် မော်စကိုမြို့ကြီးသည် ကြက်ပျံ မကျစည်ကားသော မြို့ကြီးတစ်မြို့

အဖြစ်မှ မြို့ပျက်ကြီး တစ်ခုအဖြစ်သို့ တစ်မုဟုတ်ချင်း ပြောင်းလဲ ရွှေ့လျောခဲ့ ခြင်းသာ ဖြစ်လေသည်။

# အခန်း ၂၇

ပြင်သစ်တပ်များသည် မော်စကိုမြို့ကို ကြယ်ပွင့်သဏ္ဍာန် ဝန်းရံ၍ တဖြည်းဖြည်း မျိုးလာခဲ့ခြင်းဖြစ်ရာ ပီယာ နေထိုင် သည့် ဆင်ခြေဖုံးရပ်ကွက်သို့ စက်တင်ဘာလ ၂-ရက် နေ့ ညနေပိုင်းအထိ ပြင်သစ်တပ်များ ရောက်မလာကြသေးချေ။

လွန်ခဲ့သည့်နှစ်ရက်အတောအတွင်းက ပီယာသည် မရောက်ဖူးသည့်နေရာ၊ မတွေ့ဖူးသောအခြေအနေများ၌ တစ်ယောက်တည်း ဧကစာကျင့်လျက်ရှိခဲ့ရာ ထိုနှစ်ရက်  အတွင်းတွင် ပီယာမှာ ရူးမတတ်ဖြစ်ခဲ့ရ၏။ ထိုနှစ်ရက် စလုံးပီယာသည် တစ်ခုတည်းသောအတွေးထဲ၌ နစ်မြုပ် လျက် ရှိ၏။ ဤအတွေးသည် မိမိခေါင်းထဲသို့ မည်သည့် အချိန်က မည်သို့မည်ပုံ ဝင်ရောက်လာသည်ကို မသိချေ။ ထိုမျှမက အတိတ်ကိုလည်း အမှတ်မရ၊ ပစ္စုပ္ပန်ကိုလည်း အမှတ်မရတော့ချေ။ ကြားမြင်တွေ့နေရသမျှတို့သည် ၎င်း၏စိတ်ထဲတွင် အိပ်မက်ပမာသာ ဖြစ်လျက် ရှိလေသည်။

စံအိမ်မှ ပီယာထွက်လာခဲ့ခြင်းမှာ မိမိအား ပိုက် ကွန် ကြီးသဖွယ် ရစ်ပတ်တုတ်နှောင်လျက်ရှိ၍ မိမိကိုယ် တိုင်လည်း ဖြေရှင်းခြင်းငှာ မတတ်နိုင်သော လူ့ဘောင် အရှုပ်အထွေးများကြောင့် ဖြစ်၏။ ပီယာသည် ၎င်း၏ ဥပဇ္ဈာယ်ဆရာ ဂျိုးဇက်အလက်ဇီဗစ်အိမ်သို့ ထွက်လာခဲ့ ကာ ဆရာ၏မှတ်စု မှတ်တမ်းများကို ရှာဖွေဦးမည်ဟု အကြောင်းပြခဲ့သော်လည်း တကယ်၌ကား လူ့ဘဝ၏ရှုပ် ထွေးလှသောကိစ္စများမှ ကင်းဝေးရာကို ရှာခဲ့ခြင်းသာ ဖြစ်၏။ ပီယာ့အဖို့၌

၎င်း၏ဥပဇ္ဈာယ်ဆရာ ဂျိုးဇက်အလက် ဇီဗစ်သည် ထာဝရဘုံကြီးတစ်ခုနှင့် ဆက်စပ်လျက်ရှိသည် ဟု ထင်၏။ မိမိမျှော်ပါလျက်ရှိသည့် ရုပ်ထွေးလှသော လောကကြီးသည် ကွဲပြားခြားနားသော ရိပ်ငြိမ်ချမ်းမြေ့ သည့် ဘုံတစ်ခုနှင့် ဆက်စပ်လျက်ရှိသည်ဟု ထင်၏။ ထို့ကြောင့် ပီယာသည် ရိပ်ငြိမ်ချမ်းမြေ့ရာကို ရှာခဲ့၏။ ၎င်း၏ဥပဇ္ဈာယ်ဆရာ ဂျိုးဇက်အလက်ဇီဗစ်၏ စာကြည့် ဆောင်ထဲတွင် ပီယာသည် ထိုရိပ်ငြိမ်ချမ်းမြေ့မှုကို ရခဲ့ လေသည်။ ပီယာသည် သုသာန်တစပြင် ကဲ့သို့ တိတ်ဆိတ် လျက်ရှိသည့် စာကြည့်ဆောင်ထဲ၌ ဖုန်အလိမ်းလိမ်းကပ် လျက်ရှိသော စားပွဲပေါ်တွင် တံတောင်ဆစ်နှစ်ဖက်ထောက် လျက် ထိုင်နေမိသည်။ ထိုအခါကျတော့မှ လွန်ခဲ့သည့် ရက်အနည်းခန့်က တွေ့ခဲ့ရသည့် ထူးခြားဆန်းကြယ်သော အဖြစ်အပျက်များသည် ၎င်း၏ခေါင်းထဲတွင် တရေးရေး ပေါ်လာကြသည်။ အထူးသဖြင့် ဘိုရိုဒီနိုတိုက်ပွဲကို လည်း ကောင်း၊ စစ်သားတည်းဟူသော လူတန်းစား၏ရိုးသားမှု၊ ဖြောင့်မတ်မှု၊ ထက်သန်မှုနှင့်စာလျှင် ဘာမျှ မဟုတ်သော မိမိ၏အရည်အသွေးနှင့် အခန်းကဏ္ဍကိုလည်းကောင်း ပြန်၍ တွေးနေမိသည်။ အခန်းထဲသို့ ဂျီရာဆင်ရောက်လာ သည့်အခါကျမှ ပီယာသည် အတွေးမှ လန့်နိုးလာလေ သည်။ မော်စကိုမြို့မှ ရန်သူတို့ကို ခုခံရန် စီစဉ်ထား သည်ဟု သိရရာ မိမိလည်း မော်စကိုမြို့ကာကွယ်ရေး တွင် မြို့သူ မြို့သားများနှင့်အတူ ပါဝင်ဆောင်ရွက်တော့ မည်ဟု ဆုံးဖြတ်လိုက်လေသည်။ ဤအကြံဖြင့်ပင် ပီယာ သည် ဂျီရာဆင်အား လယ်သမားဝတ်စုံနှင့် ပြောင်းတို သေနတ်တစ်လက်ကို အရှာခိုင်းခြင်း ဖြစ်၏။ ဤအတော အတွင်း ဤမှာပင် ဆက်လက်နေထိုင်ဦးမည် ဖြစ်ကြောင်း၊ မိမိ၏ အမည်ကိုလည်း မည်သူ့ကိုမျှ ထုတ်ဖော်ပြောဆို ခြင်း မပြုစေလိုကြောင်းဖြင့် ဂျီရာဆင်ကို ပြောပြထား၏။ ဤသို့ တစ်ယောက်တည်း အခန်းအောင်း၍နေစဉ်တွင် (ညီအစ်ကိုတော်ဂိုဏ်းဝင်များ၏ စာပေများ၊ မှတ်စုမှတ်တမ်းများကိုဖတ်ရန် ကြိုးစားသော်လည်း အချည်းနှီးသာ။) တစ်ခါကပေါ်ပေါက်ခဲ့

သော အကြံတစ်ခုလည်း ပေါ်ပေါက် လာခဲ့သည်။ ထိုအကြံကား "အပဟိတ်တိရစ္ဆာန်" ဘိုနာပတ် အား လုပ်ကြံရန်အကြံ ဖြစ်လေသည်။ သို့ရာတွင် ထို အကြံသည် ခါတိုင်းကဲ့သို့ပင် ခေါင်းထဲသို့ ပြက်ခနဲဝင် လာပြီးနောက် အမှတ်မထင် ပျောက်ကွယ်သွားပြန်သည်။

ဤသို့ဖြင့် ပီယာသည် ထိုအကြံကို မေ့ပျောက် ကာ မော်စကိုမြို့မှ ခုခံ တိုက်ခိုက်ရာ၌ ပါဝင်မည်ဟူသော စိတ်ကူးဖြင့် လယ်သမားဝတ်စုံ အင်္ကျီတစ်စုံကို ဝယ်၍ ပြန်အလာတွင် နာတာရှာတို့နှင့် တွေ့ခြင်း ဖြစ်လေသည်။ "အစ်ကို မော်စကိုမှာ နေရစ်ခဲ့မလို့လား။ ပျော်စရာကြီး နော်" ဟူသော နာတာရှာ၏အသံကလေးကို ကြားယောင် လာပြန်သည်။ ပီယာအဖို့ကား မော်စကိုကို ရန်သူတို့က သိမ်းပိုက်သည်ထားဦး။ မော်စကိုမြို့တွင် နေရစ်ခဲ့၍ နပို လီယန် လုပ်ကြံရေးဟူသော မိမိအကြံအစည်ကို အကောင် အထည်ဖော်ရလျှင် ကျေနပ်နေပေပြီ။

နောက်တစ်နေ့၌ ပီယာသည် စစ်သားတစ်ယောက် ကဲ့သို့ မိမိ၏အသက်ကို စွန့်လွှတ်၍ ရန်သူတို့ကို ခုခံ ( တိုက်ခိုက်တော့မည်ဟုဆုံးဖြတ်လျက် တောင်သုံးလုံး တံခါး သို့ ထွက်လာခဲ့၏။ သို့ရာတွင် အိမ်သို့ပြန်ရောက်၍ မော် စကိုမြို့မှ ခုခံတော့မည်မဟုတ်ဟု သိရသောအခါ၌ကား ပီယာသည် မိမိခေါင်းထဲတွင် မိမိအကြံအစည်ကို မဖြစ် မနေ အကောင်အထည်ဖော်ရတော့မည်ဟု ဆုံးဖြတ်လိုက်သည်။ မိမိသည် ရုပ်ဖျက်၍ မော်စကိုတွင် နေရစ်ခဲ့မည်။ မော်စကိုတွင်နေခဲ့ရင်း နပိုလီယန်၏အသက်ကို လုပ်ကြံ  မည်ဟု သန္နိဋ္ဌာန်ချလိုက်၏။ ပီယာ့အမြင်၌ ဥရောပတိုက် ကြီးကို ဒုက္ခပင်လယ်ဝေစေသူမှာ နပိုလီယန် ဖြစ်သည်ဟု ယူဆလျက် ရှိလေသည်။ ' ၁၈ဝ၉-ခုနှစ်က ဗီယင်နာမြို့တွင် ဂျာမန်ကျောင်း သားတစ်ဦးက ဘိုနာပတ်၏အသက်ကို လုပ်ကြံခဲ့ဖူးရာ လုပ်ကြံမှုမှာ အောင်မြင်ခြင်း မရှိချေ။ ဂျာမန်ကျောင်းသား ကိုလည်း စစ်ခုံရုံးက သေနတ်ဖြင့် ပစ်သတ်လိုက်၏။ ပီယာသည် ဤအဖြစ်အပျက်ကို ကောင်းကောင်းသိပြီး ဖြစ်သည်။ ဤသို့ဖြင့်

မိမိ၏အသက်ကို စွန့်၍ အကြံ အစည်ကို အကောင်အထည် ဖော်ရတော့မည် ဟူသော အတွေးကြောင့် ပီယာမှာ ဖျတ်လတ်တက်ကြွလျက် ရှိ လေသည်။

ပီယာအား ဤအကြံအစည်ကို အထမမြောက် မြောက်အောင် တိုက်တွန်း စေ့ဆော်လျက်ရှိသော အကြောင်း ကြီးနှစ်ချက်ရှိ၏။ တစ်ချက်မှာ မိမိ၏အသက် ကို အများ ကောင်းကျိုးအတွက် စွန့်လွှတ်လိုခြင်းနှင့် ဤမျှ လူတွေ ဗရုတ်သုက္ခ ဖြစ်ရခြင်းကို မခံရပ်နိုင်အောင် နာကြည်းမိ ခြင်းကြောင့် ဖြစ်၏။ ဤခံစားချက်ဖြင့် ပင် ပီယာသည် တိုက်ပွဲအပြင်းအထန် ဖြစ်ပွားလျက်ရှိသည့် မိုဇဟော့သို့ ထွက်ခွာခဲ့ ခြင်း ဖြစ်၏။ ယခု ထိုခံစားချက်ကြောင့်ပင် ပီယာသည် စံအိမ်မှထွက်ပြေးလာကာ မိမိကျင်လည်ကျက် စားခဲ့သော စည်းစိမ်ဥစ္စာတို့ကို စွန့်ပစ်ခဲ့ပြီးနောက် ကြမ်း တမ်းမာကျောသည့် သစ်သားခုံတန်းပေါ်တွင် အဝတ်ကိုမျှ မလဲ နိုင်ဘဲ အိပ်စက် ကာ အစေခံဖြစ်သူ ဂျီရာဆင် စား သကဲ့သို့ စားခဲ့၏။ အခြားတစ်ချက်ကား ရုရှား လူမျိုးတို့ ထုံးစံအတိုင်း အတုအယောင်ဖြစ်သော အယူသီးမှုများ ကို မုန်းတီးသော စိတ်ဓာတ်၊ ကမ္ဘာပေါ်တွင် လူအများက အမွန်မြတ်ဆုံးဟုထင်နေသော အရာများ ကို မုန်းတီးသည့် စိတ်ဓာတ် ဖြစ်၏။ လောကဌ် လူသတ္တဝါအပေါင်းတို့ အပင်တ ပန်း လိုက်လံရှာဖွေကာ မက်မက်မောမောဆုပ် ကိုင်ထားကြသည့်အရာများ ဖြစ် သော အာဏာ၊ ဥစ္စာ၊ အခြွေအရံစသည်တို့သည် တကယ်၌ ဘာမျှ တန်ဖိုးမရှိ။ ၎င်း တို့၌ တန်ဖိုးရှိသည်ဆိုလျှင် ထိုတန်ဖိုးသည် ၎င်းတို့ ကို နှမြောတွန့်တိုခြင်းမရှိ ရက်ရောစွာစွန့်လွှတ်နိုင်ခြင်း ကြောင့် ဖြစ်ပေါ်လာသော ရွှင်လန်းကြည်နူးခြင်းသာ ဖြစ် သည်ဟု ပီယာယူဆသည်။ ဤထူးဆန်းသောအတွေး  သည် စလိုဗိုဒါ နန်းတော်သို့ ရောက်စဉ်က ပီယာ၏ခေါင်း ထဲသို့ အမှတ်မထင် ရောက်လာခဲ့ခြင်း ဖြစ်လေသည်။

စင်စစ်၌ ထိုအတွေးမျိုးသည် တစ်နေ့ နှစ်ပြား ရလျှင် နှစ်ပြားဖိုး အရက် သောက်မည်ဟူသော လူတစ် ယောက်၏ အတွေးမျိုး ဖြစ်၏။ ရှိသမျှ ပိုက်ဆံ အားလုံး ကုန်မည်မှန်းသိလျက် မှန်များ ဖန်ခွက်များကို အကြောင်းမဲ့ သက်သက် ရိုက်ခွဲသော အရက်သမားတစ်ဦး၏အတွေး မျိုး ဖြစ်၏။ သာမန်မျက်စိဖြင့်ကြည့် လျှင် လူတစ်ယောက် အား အရူးတစ်ယောက်ဟု ထင်စေနိုင်သောအလုပ်မျိုးကို လုပ်ရန် စေ့ဆော်တိုက်တွန်းသည့် အတွေးမျိုး ဖြစ်၏။ လူတစ်ယောက်၏ စိတ် တန်ခိုးနှင့် အားမာန်ကို စမ်းသပ် စစ်ဆေးသောအတွေးမျိုး ဖြစ်၏။ တစ်နည်းအားဖြင့်ဆိုရ လျှင် လူ့ဘဝ၏မှတ်ကျောက်တွင် စမ်းသပ်အစစ်ဆေးခံ ခြင်းလည်းမည်ပေသည်။

စလိုဗိုဒါနန်းတော်သို့ ရောက်ခဲ့သည့်နေ့မှစ၍ ထို အတွေးသည် ပီ ယာ၏ခေါင်းထဲတွင် ချာချာလည်လျက်ရှိ ခဲ့ရာ ယခုမူ ထိုအတွေးသည် ကြည်လင် ပြတ်သား၍ လာ ခဲ့လေပြီ။ ယခုအချိန်၌ မိမိသည် အခြားသူများကဲ့သို့ မော်စကိုမြို့ ကို စွန့်ခွာထွက်ပြေးမည်ဆိုပါက အိမ်မှ ထွက်ပြေးလာခဲ့ခြင်း၊ လယ်သမားဝတ်စုံကို ဝတ်၍ ရုပ် ဖျက်ခြင်း၊ ပြောင်းတိုသေနတ်ကို မရအရရှာခဲ့ခြင်း၊ မော် စကိုတွင် နေရစ်ခဲ့မည်ဟု နာတာရှာတို့အား ပြောခဲ့ခြင်း စသည်တို့သည် ဘာအဓိပ္ပာယ်ရှိပါ ဦးမည်နည်း။ ထို့မျှမက ကြွားလုံးထုတ်သူတစ်ယောက် ဖြစ်လေသည်ဟုလည်း ကဲ့ ရယ်ကြဦးမည် မဟုတ်လော။ ပီယာသည် ဤကဲ့သို့ ကဲ့ရယ် အထင်သေးခြင်းကိုမူ လုံးလုံးမခံနိုင်ချေ။

ပီယာ၏ခန္ဓာကိုယ်သည်လည်း ထုံးစံအတိုင်း သူ့ စိတ်နှင့် တစ်ထပ်တည်း ဖြစ်လျက် ရှိ၏။ ယခင်က မစား ဖူးသောအစားကြမ်းကို စားရခြင်း၊ ထိုရက်အတွင်း အရက် ပြင်းကို သောက်ရခြင်း၊ ခါတိုင်းသောက်နေကျ အရက် ချိုနှင့် ဆေးပြင်းလိပ်တို့ မရှိခြင်း၊ ညစ်ပတ်ပေရေနေသော အဝတ်ကြမ်းကို ဝတ်ရခြင်း၊

နှစ်ညတိုင်တိုင် တစ်ရေးမျှ မအိပ်ရဘဲ သစ်သားခုံတန်းပေါ်တွင် ငုတ်တုတ်မိုးလင်း ခဲ့ရခြင်းတို့ကြောင့် ပီယာသည် အရူးတစ်ပိုင်း ဖြစ်လျက် ရှိလေပြီ။

အချိန်မှာ မွန်းတည့်နှစ်ချက်တီး ဖြစ်၏။ ပြင်သစ် တပ်များမှာ မော်စကိုမြို့ ထဲကို ဝင်ရောက်လာကြလေပြီ။ ဤအချက်ကို ပီယာ သိ၏။ သို့ရာတွင် ရန်သူတို့ ကို ခုခံရန် ကြိုးစားခြင်းမပြုတော့ဘဲ မိမိ၏အကြံအစည်ကို အကောင်အထည်ဖော် ရန်အတွက်သာ စိတ်ကူးဖြင့် အကွက် ချနေသည်။ မိမိ၏လက်ချက်ဖြင့် နပိုလီယန် သေမည် မသေမည်ကို မသိရသေးသော်လည်း မိမိသေဖို့မှာ တစ်ဝက် လောက်သေချာလျက် ရှိလေပြီ။ ဤသို့ တွေးလိုက်မိတိုင်း ပီယာသည် မိမိ၏ရဲစွမ်းသတ္တိကို ပြရတော့မည်ဟု ဝမ်း နည်းဝမ်းသာဖြစ်လျက် ရှိလေသည်။

"ဟုတ်တယ်။ အများရဲ့ ကောင်းကျိုးချမ်းသာ အတွက် ငါ အသက်အသေခံရ မယ်။ နပိုလီယန်အနားကို ရောက်အောင် သွားမယ်။ ပြီးတော့ သေနတ်ကို ထုတ် ချိန်မယ်။ သေနတ်သုံးခွင့် မရရင်လဲ ဓားမြှောင်ပဲ သုံးမယ်။ "ခင်ဗျားကို ကျုပ်က ဒဏ်ပေးတာ မဟုတ်ဘူး။ ဘုရား သခင်က ဒဏ်ခတ်တော်မူတာ" လို့ပြောပြီး သတ်မယ်။ ပြီးတော့ "ကဲ ကျုပ်ကို သတ်ကြတော့" ဆိုပြီး လည်စင်းခံ မယ်"

ပီယာသည် ဤသို့ စိတ်ကူးလျက်ရှိသည်။ ၎င်း၏ မျက်နှာသည် ညှိုးငယ်နေ လင့်ကစား လုပ်မိလျှင် မဆုတ် ဟူသော အသွင်သဏ္ဌာန်ကို ဆောင်လျက် ရှိ၏။

ပီယာသည် စာကြည့်ဆောင်ထဲ၌ ရပ်ကာ ဤသို့ တွေးတောနေလျက်ရှိစဉ် တံခါးသည် ကျွိခနဲမြည်၍ ပွင့် လာပြီးနောက် ဥပဇ္ဈာယ်ဆရာ၏ညီ အရူးမာ ကာသည် တံခါးဝတွင် မားမားကြီးရပ်လျက်ရှိသည်ကို မြင်ရ၏။ မာကာသည် ခါ တိုင်းကဲ့သို့ မဝံ့မရဲ မျက်နှာထားကို ဆောင်ထားသော်လည်း အသွင်မှာပြောင်းလဲ လျက်ရှိလေပြီ။

မာကာ၏ဝတ်ရုံအင်္ကျီကြီးသည် ရင်ဘတ်ဟောင်း လောင်းဖြစ်လျက် ရှိ၏။ မျက်နှာသည် နီရဲ၍ ရှုံ့မဲ့လျက် ရှိ၏။ မာကာသည် အရက်မူးလာဟန်တူသည်။ ပီယာကို မြင်သည့်အခါ၌ မာကာသည် မဝံ့မရဲဖြစ်နေသေးသော် လည်း ပီယာခပ်အမ်းအမ်းဖြစ်နေပုံကို မြင်သည်၌ အတင့် ရဲလာကာ ဒယီးဒယိုင်ဖြင့် အခန်းထဲသို့ ဝင်လာ၏။

"မြို့စားလေးရေ လူတွေကတော့ ကြောက်နေကြ ပြီဗျ။ ကျုပ်ကတော့ သင်းတို့ကို အညံ့မခံဘူးဗျ။ အရှုံး မပေးဘူးဗျ။ မဟုတ်ဘူးလား မြို့စားလေး"

မာကာက အာလေးလျှာလေးကြီးဖြင့် ပြောသည်။ မာကာသည် ရပ်လိုက်ပြီးနောက် စားပွဲမှ သေနတ် ကို မြင်သည်နှင့် ဖျတ်ခနဲဆွဲယူကာ အခန်းပြင်သို့ ပြေးထွက်သွားလေသည်။

ဂျီရာဆင်နှင့် အိမ်စေတစ်ယောက်သည် မာကာ နောက်သို့ လိုက်ကြ၏။ စမုတ်ဆောင်အနီးတွင် ဖမ်းမိ သဖြင့် မာကာ့လက်မှ သေနတ်ကို ပြန်လုကြ၏။ ပီယာ သည် အပြင်သို့ ထွက်လာကာ အရူးတစ်ပိုင်းဖြစ်နေသော မာကာကို သနားစိတ်၊ စက်ဆုပ်သည့်စိတ်တို့ဖြင့် ကြည့်မိ သည်။ မာကာသည် အတင်းရုန်းကန်၍ သေနတ်ကို အပေါ်သို့ ကိုင်မြှောက်ထားရာမှ မျက်နှာထားကြီးဖြင့် လှမ်း ကြည့်ကာ

"ဖယ်ပါကွ၊ ငါ ဒီကောင်တွေကို ချမယ်ကွ၊ ဖယ်ကွ" ဟု အော်ဟစ်လျက် ရှိ၏။

"ချချင်ရင် ချရပါစေ့မယ် ဆရာ။ အေးအေးဆေး ဆေး လုပ်ပါ။ အိမ်ထဲခဏ ပြန်ဝင်ပါ။ ခဏလေးရယ်၊ ခဏလေး" ဂျီရာဆင်သည် မာကာကို အိမ်ထဲသို့ တွန်းလွှတ်၏။ "

"မင်းက ဘယ်သူလဲ။ ဘိုနာပတ်ဆိုတဲ့ကောင် လား"

မာကာက အော်လိုက်၏။

“ဒီလို မလုပ်ပါနဲ့ ဆရာ၊ အေးအေးဆေးဆေး လုပ်ပါ။ အခန်းထဲမှာ ခဏလှဲ နေပါဦး။ သေနတ်ကိုလဲ ပေးထားပါ”

“သွား၊ ကျွန်စုတ်၊ ငါ့ မထိနဲ့ ။ ထိရင်တော့ အချ လိုက်ပဲ မြင်တယ်မဟုတ်လား” မာကာက သေနတ်ကြီး တယမ်းယမ်းဖြင့် ပြောလိုက်၏။

“ဟော့ ဝင်လုံးလေကွာ” ဂျီရာဆင်က အိမ်စေကို ပြောလိုက်၏။ - `ဂျီရာဆင်နှင့် အိမ်စေသည် မာကာ၏လက်နှစ်ဖက် ကို ဝင်ချုပ်လိုက်ကြပြီး အိမ်ထဲသို့ ဆွဲခေါ်လာကြ၏။

စမုတ်ဆောင်၌ကား လုံးထွေးရုန်းကန်သံများနှင့် ကြမ်းတမ်းအက်ကွဲလျက်ရှိသော အော်သံကြီးကြောင့် ဆူ ညံလျက် ရှိ၏။

ထိုအခိုက် နောက်ထပ်အသံတစ်ခု ပေါ်လာလေ သည်။ ထိုအသံကား ဆင်ဝင်အောက်မှ စူးစူးဝါးဝါး အော်လိုက်သည့် မိန်းမတစ်ယောက်၏ အသံ ဖြစ်၏။

အသံနှင့် အတူ ထမင်းချက်မိန်းမကြီးသည် စမုတ်ဆောင် ထဲသို့ ပြေးဝင်လာ၏။

“လာကုန်ကြပြီတော့၊ ဘယ့်နှယ် လုပ်ကြမလဲ။ မြတ်စွာဘုရားကြီး ကယ်တော်မူပါ။ မြင်းတပ်သား လေး ယောက် ဝင်လာကြပြီတော့။ ဘယ့်နှယ် လုပ်ကြမလဲ။ ကယ်ကြပါဦး”

ဂျီရာဆင်နှင့် အိမ်စေသည် မာကာကို အခန်းထဲ သွင်း၍ သော့ပိတ်ထားလိုက်ကြ၏။ အိမ်ရှေ့တံခါးမှ တဗုန်းဗုန်း ထုနေသံများ ထွက်ပေါ်လာလေသည်။

# အခန်း ၂၈

ပီယာသည် မိမိ၏အကြံအစည်အထမမြောက်မချင်း မိမိ၏ အမည်နာမကို လည်းကောင်း၊ မိမိ ပြင်သစ်ဘာသာတတ် ကျွမ်းကြောင်းကို လည်းကောင်း အသိပေးခြင်းမပြုဟု ဆုံးဖြတ်လျက် တံခါးဝတွင် ရပ်နေသည်။ ပြင်သစ်တပ် သား များဝင်လာလျှင် ပုန်းရန်နေရာကိုလည်း ကြည့်ထား သည်။ သို့ရာတွင် ပြင် သစ်တပ်သားများ ဝင်လာသည့် အချိန်မှာ ပီယာသည် အခြေအနေအရပ်ရပ်ကို အက် ခတ်လိုသဖြင့် မပုန်းဖြစ်တော့ဘဲ တံခါးဝမှာပင် ရပ်နေ မိလေသည်။

ပထမဆုံးဝင်လာသူမှာ ပြင်သစ်နှစ်ယောက် ဖြစ် ၏။ တစ်ယောက်မှာ အရပ် မြင့်မြင့်၊ ယောက်ျားပီသ၍ ချောမောခန့်ညားသော တပ်ဗိုလ်တစ်ဦးဖြစ်ပြီး အခြား တစ် ယောက်မှာ အသားညိုညို၊ အရပ်ပုပု၊ ခပ်ပိန်ပိန်ဖြစ်လျက် ချိုင့်ဝင်နေသော ပါးများနှင့်တကွ မျက်နှာထားခပ်ဆိုးဆိုး ဖြစ်လေရာ ပုံပန်းမှာ သာမန်တပ်သား တစ်ဦးသော်လည်း ကောင်း၊ တပ်ဗိုလ်၏ တပ်လုလင်တစ်ဦးသော် လည်း ကောင်း ဖြစ်ဟန် ရှိ၏။ တပ်ဗိုလ်သည် တုတ်ကောက်တစ် ချောင်းကို အားပြု၍ တ ဒေါက်ဒေါက်ဖြင့် ထော့နဲ့ ထော့နဲ့ ဝင်လာ၏။ အခန်းထဲသို့ လေးငါးလှမ်းမျှ ဝင်လာ ပြီးနောက် တပ်ဗိုလ်သည် ရပ်လိုက်၏။ စခန်းချရန် အိမ်ကောင်း တစ်လုံး ဖြစ်သည် ဟု ယူဆဟန် လက္ခဏာဖြင့် အပေါက်ဝ တွင်ကျန်ရစ်ခဲ့သော တပ်သားများကို လှမ်း၍ မြင်းများကို ချည်ထားရန် အမိန့်ပေးလိုက်သည်။ ထို့နောက် တပ်ဗိုလ် သည် ခန့်ညားသောဟန်ဖြင့် တံတောင်ဆစ်ကွေးလျက် မုတ်ဆိတ်မွေးများကို သပ် လိုက်ပြီး ဦးထုပ်ကို လက်များ ဖြင့် မထိတထိတို့၍ နှုတ်ဆက်လိုက်၏။

"ကောင်းသောနေ့ပါ ခင်ဗျား" တပ်ဗိုလ်က အား လုံးကို လှည့်ကြည့်ပြီး ပြင် သစ်ဘာသာဖြင့် ပြုံးရွှင်စွာ နှုတ်ဆက်လိုက်သည်။

မည်သူမျှ ပြန်၍ နှုတ်ဆက်ခြင်း မပြုကြ။

“ဦးကြီးက အိမ်ရှင်လားခင်ဗျာ” တပ်ဗိုလ်က ဂျီ ရာဆင်ကို မေး၏။

ဂျီရာဆင်သည် ပြင်သစ်တပ်ဗိုလ်ကို ကြောက်လန့် ကာ ကြည့်နေသည်။

“ကျွန်တော်တို့ ဒီအိမ်မှာ စခန်းချချင်ပါတယ် ခင်ဗျာ။ ပြင်သစ်တွေဟာ လူဆိုးတွေ မဟုတ်ပါဘူး။ ကျွန်တော်တို့ကို ကြောက်မနေပါနဲ့”

ပြင်သစ်တပ်ဗိုလ်က ရိုးသားစွာပြုံး၍ ယဉ်ကျေး သိမ်မွေ့စွာပြောရင်း ဂျီရာ ဆင်၏ပခုံးကို ပုတ်လိုက်သည်။

“သြော်၊ လက်စသတ်တော့ ဘယ်သူမှ ပြင်သစ် လို မတတ်ကြဘူးထင် တယ်။ ဟုတ်စ” ပြင်သစ်တပ်ဗိုလ် က ပြင်သစ်လို ပြောပြီး လှမ်းကြည့်လိုက်ရာ ပီ ယာနှင့် မျက်လုံးချင်း သွားဆုံနေ၏။ ပီယာသည် တံခါးအနီးမှ ထွက်လာခဲ့သည်။

ပြင်သစ်တပ်ဗိုလ်ကား ဂျီရာဆင်အား အိမ်ထဲမှ အခန်းများကို လိုက်ပြရန် ပြောဆို ကျန်ရစ်ခဲ့၏။

“အိမ်ရှင် မရှိဘူးနော်။ ကျုပ် ပြင်သစ်လို မတတ် ဘူး။ ရှိတယ်နော်။ ကျုပ်နဲ့ ခင်ဗျား ရှိတယ်နော်” ဂျီရာဆင် က ပြင်သစ်တပ်ဗိုလ် နားလည်လေမည်လော ဟူသော အတွေးဖြင့် ရုရှားစကားကို တစ်လုံးချင်း ပြောနေသည်။

ပြင်သစ်တပ်ဗိုလ်သည် ပြုံးလျက်ရှိရင်းကပင် “ခင် ဗျားစကားကို ကျုပ် နား မလည်၊ ကျုပ်စကားကို ခင်ဗျား နားမလည်” ဟူသောသဘောဖြင့် လက်ဖဝါးကို ဖြန့်ကာ ဂျီရာဆင်၏နှာခေါင်းရှေ့သို့ ထိုး၍ ပြလိုက်ပြီးနောက် ပီယာထံသို့ ထော့နဲ့ ထော့နဲ့ဖြင့် လျှောက်လာ၏။ ပီယာ ' သည် ထိုနေရာမှထွက်သွားကာ ပုန်းနေလိုက် မည်ဟု စိတ် ကူးမိ၏။ ထိုအခိုက် မာကာသည် သေနတ်ကြီးတကား ကားဖြင့် မီးဖို

ထဲမှ ထွက်လာလေသည်။ မာကာသည် စိတ်ဖောက်ပြန်တတ်သော အရူးတို့၏ ထုံးစံအတိုင်း သေနတ်ကို မြှောက်၍ ပြင်သစ်တပ်ဗိုလ်ကို ချိန်လိုက်၏။

“ခွေးသားတွေ၊ သေပေတော့ကွ”

မာကာသည် ကြောက်မက်ဖွယ်အသံကြီးဖြင့် အော် ကာ မောင်းကို ဖြုတ်တော့မည်ပြုလိုက်၏။ မာကာ၏ အော်သံကြောင့် ပြင်သစ်တပ်ဗိုလ်သည် ချာခနဲ လှည့်ကြည့် လိုက်သည်။ ပီယာသည် အရက်မူးနေသော အရူးကြီး မာကာကို ခုန်အုပ်လိုက်ပြီးနောက် မာကာ၏လက်မှ သေ နတ်ကို လုလိုက်သည်။ သို့ရာတွင် ပီယာက သေနတ် ကို ဝင်လုလိုက်သည့်အချိန်၌ မာကာ၏လက်ညှိုးသည် သေနတ်မောင်းပေါ်သို့ ရောက်သွားလေပြီ။ သေနတ်သံ သည် မြည်ဟိန်းထွက်ပေါ်လာကာ တစ်ခန်းလုံး မီးခိုးလုံး များ ဖုံးသွားလေသည်။ ပြင်သစ်တပ်ဗိုလ်သည် မျက်နှာဖြူရော်လျက် တံခါးဆီသို့ ခပ်သုတ်သုတ်ပြေးထွက်သွား ၏။

ပီယာသည် မာကုထံမှ သေနတ်ကို လုယူ၍ လွှင့်ပစ်လိုက်ပြီး ပြင်သစ်စကား မတတ်ယောင်ပြုနေခြင်း ကို မေ့လျော့သွားကာ ပြင်သစ်တပ်ဗိုလ်အား

”ထိသွားသလား” ဟု ပြင်သစ်စကားဖြင့် မေး လိုက်၏။

“မထိဘူး ထင်တာပဲဗျ” ပြင်သစ်တပ်ဗိုလ်က သူ့ကိုယ်အနှံ့ စမ်းသပ်ကြည့်ရင်း ပြောလိုက်သည်။ ထို့ နောက် နံရံမှ ကျည်ဆန်ပေါက်ကို လက်ညှိုးထိုးပြလိုက်ပြီး

”အား ဒီအချီတော့ ကံကောင်းသွားပြန်ပြီဗျ။ ဒီလူက ဘယ်သူလဲဟင်”ဟု ပီယာကို ခပ်တင်းတင်းကြည့် ၍ မေးလိုက်သည်။

“အေးဗျာ။ ဒီလိုဖြစ်ရတာ စိတ်မကောင်းပါဘူး။ အဘိုးကြီးက စိတ်ဖောက်ပြန်နေလို့ပါ” ပီယာက ပြန်ဖြေ လိုက်၏။ ပီယာသည် မိမိ ပြင်သစ်စကား

မတတ်ယောင် ဆောင်နေရမည့်ကိစ္စကို မေ့လျော့နေလေပြီ။

ပြင်သစ်တပ်ဗိုလ်သည် မာကုထံသို့ လျှောက်သွား ကာ လည်ကုတ်ကို ကိုင်ဆွဲလိုက်၏။ မာကာသည်ပါးစပ် ကြီးဟောင်းလောင်းနှင့် ရှိရာက အိပ်ပျော်ခါနီးသူကဲ့သို့ နံရံတွင်မှီရင်း ဒယီးဒယိုင်ဖြစ်လျက် ရှိသည်။

"ဘာလဲ အဘိုးကြီး သေသွားချင်သလား။ ဟုတ် လား။ ကျုပ်တို့ ပြင်သစ်တွေဟာ ရှုံးတဲ့လူကို ဖိမထောင်း တတ်ပေမယ့် စော်ကားတဲ့လူကိုတော့ ခွင့်မလွှတ်တတ်ဘူး နော်။ ဘာမှတ်နေသလဲ" တပ်ဗိုလ်က မျက်နှာထားဖြင့် ပြောလိုက်ပြီး မာကာကို ပြန်လွှတ်လိုက်၏။

ပီယာကား ဤအဘိုးကြီးမှာ စိတ်ဖောက်ပြန်လျက် ရှိရုံမျှမက အရက်လည်း မူးနေကြောင်း၊ ထို့ကြောင့် ဝေ့ ယူခြင်း မပြုသင့်ကြောင်း ပြင်သစ်လို တတွတ်တွတ်ပြော လျက် ရှိ၏။ ပြင်သစ်တပ်ဗိုလ်သည် မျက်နှာထားတင်း တင်းဖြင့် နားထောင်နေရာက ပီယာဘက်သို့ ရုတ်တရက် လှည့်၍ ပြုံးလိုက်ပြီး စက္ကန့်အတော်ကြာမျှ ကြည့်နေ သည်။ တပ်ဗိုလ်သည် ၎င်း၏ချောမော ခန့်ညားသည့် မျက်နှာတွင် နူးညံ့ပျော့ပျောင်းသည့်အသွင်ကို ဆောင်လိုက် လျက် ပီယာကို လက်ကမ်းပေးလိုက်၏။

"အေးဗျာ။ ကျုပ်ကို ခင်ဗျား ကယ်ပေတာပဲ။ ကေန္တ ခင်ဗျားဟာ ပြင်သစ်လူမျိုး ဖြစ်ရမယ်"

ဤတွေးပုံခေါ်ပုံမျိုးမှာ ပြင်သစ်တို့ခေါင်းထဲတွင် သံမှိုစွဲသကဲ့သို့ စွဲနေသည့် တွေးပုံခေါ်ပုံမျိုး ဖြစ်၏။ ပြင်သစ် လူမျိုးတို့သည် မိမိတို့သာလျှင် ကြီးကျယ်မွန်မြတ်သော အလုပ်မျိုးကို လုပ်နိုင်စွမ်းရှိသည်ဟု ယူဆကြလေရာ ပြင်သစ်တပ်မတော် အမှတ်-၁၃ ခြေမြန်တပ်ရင်းမှ ဗိုလ် ကြီးတစ်ဦးဖြစ်သူ အင်ရမ်ဗေးအဖို့တွင်

လည်း မိမိ၏အသက် ကို ကယ်ဆယ်လိုက်သော ပီယာ၏အပြုအမူသည် ကြီး ကျယ်မွန်မြတ်သော အပြုအမူကြီး တစ်ခု မဟုတ်ပါလော။

သို့ရာတွင် ပြင်သစ်တို့၏ကောက်ချက်ဆွဲပုံသည် ၎င်းတို့အဖို့ မည်မျှ မှန်ကန်နေသည် ဖြစ်စေ၊ ပြင်သစ်တပ် ဗိုလ်ကလည်း ဤအစွဲကို အခြေပြု၍ ပီယာအား ပြင်သစ် လူမျိုးတစ်ယောက်ဖြစ်ရမည်ဟု မည်မျှယူဆနေသည်ဖြစ် စေ ပီယာအဖို့ မူ ဤကိစ္စကို ရှင်းထားမှ ဖြစ်မည်ဟု ယူဆ လိုက်သဖြင့်

”မဟုတ်ပါဘူး။ ကျုပ်က ရုရှားလူမျိုးပါ”

“သြော် ရုရှားလူမျိုးလား။ ကျွတ် ကျွတ် ကျွတ် ဖြစ်မှ ဖြစ်ရလေဗျာ။ ဟော့၊ အိမ်ရှေ့က ရဲဘော်တွေ သွား ခေါ်ချည်စမ်း” တပ်ဗိုလ်က နောက်လိုက်တပ်သား အား လှည့်ပြောပြီးနောက် လက်ညှိုးကို နှာခေါင်းရှေ့တွင် ထောင်၍ ပြုံးလိုက်ရာမှ

”အေးဗျာ အကျိုးအကြောင်း ပြောပြစမ်းပါဦး။ ခင်ဗျားလို မျိုးချစ်တစ် ယောက်နဲ့ တွေ့ရတာတော့ ဝမ်း သာသဗျ။ ဟဲ ဟဲ။ ဒီအဘိုးကြီးကို ကျုပ်တို့ ဘယ်လို ဆုံးမရမလဲ။ ခင်ဗျားပဲ အကြံဉာဏ်ပေးပါ” , ပြင်သစ်တပ်ဗိုလ်က ပီယာ အား ညီရင်းအစ်ကို သဖွယ် ရင်းရင်းနှီးနှီး မေးမြန်းနေ၏။

ပီယာသည် ပြင်သစ်လူမျိုး မဟုတ်သည့်တိုင် မိမိ အား ပြင်သစ်တပ်ဗိုလ်က မျိုးချစ်တစ်ဦးဟူသော အမြင့် ဆုံးသောဘွဲ့ထူးကို ပေးအပ်လိုက်ခြင်းအတွက် ကျေနပ် သွားသည်။ ပြင်သစ်တပ်ဗိုလ်၏မျက်လုံးနှင့် အသံကလည်း မိမိအား တကယ်ပင်လေးစားဟန်ပြလျက် ရှိ၏။ ပီယာ သည် မာကာ့အကြောင်းနှင့် တကွ ခပ်စောစောကပင် စိတ်ဖောက်ပြန်လာကာ သေနတ်ကို ယူသွားကြောင်း၊ မိမိတို့ မှာလည်း မာတာ့ထံမှ သေနတ်ကို ပြန်ယူချိန်မရ လိုက်ကြောင်း စသဖြင့် ပြောပြ ကာ မာကာကို အရေးမယူ ရန် တောင်းပန်လျက် ရှိ၏။

ပြင်သစ်တပ်ဗိုလ်သည် ရင်ကော့၍ အသက်ရှူလိုက် ပြီးနောက် လက်ကို ဟန်ပါပါဝှေ့ယမ်းလိုက်ပြီး

”ကျုပ်အသက်ကို ခင်ဗျား ကယ်လိုက်တာပဲဗျ။ ဒီတော့ ခင်ဗျားက ဘယ်လောက်ပဲငြင်းငြင်း ကျုပ်ကတော့ ပြင်သစ်တစ်ယောက်လို့ပဲ ယူဆလိုက်တော့မယ်။ ဒီတော့ ခင်ဗျားလို လူတစ်ယောက်က အရေးမယူပါနဲ့လို့ ပြောတဲ့အတွက် ကျုပ် အရေးမယူတော့ပါဘူး။ ကဲ အဘိုးကြီးကို ကြည့်ခေါ်သွားကြပါစေဗျာ”

ပြင်သစ်တပ်ဗိုလ်သည် ပီယာလက်မောင်းကို ဆွဲ ကာ အခန်းထဲသို့ ခေါ်သွားလေသည်။ ပီယာမှာလည်း ပြင်သစ်တစ်ယောက်၏ အသက်ကို ကယ်လိုက်သည့်အတွက် နေ့ချင်းညချင်းပင် ပြင်သစ်လူမျိုးတစ်ဦးအဖြစ် “ရာထူးတိုး” သွားခဲ့လေပြီ။

အိမ်ရှေ့တွင် ကျန်ရစ်ခဲ့သည့် တပ်သားများသည် သေနတ်သံကို ကြားသဖြင့် ပြေးဝင်လာကြကာ အကျိုး အကြောင်းကို လာရောက်မေးမြန်းကြ၏။ တပ်သားများက မာကာကို ရိုက်မောင်းပုတ်မောင်းလုပ်မည် ပြုကြသော် လည်း တပ်ဗိုလ်က တားထားသဖြင့် ပြန်ထွက်သွားကြလေ သည်။

“ဟေ့ ရဲဘော်တွေ အပြင်မှာ စောင့်နေကွာ။ လို တော့ ခေါ်မယ်”

တပ်သားများ ပြန်ထွက်သွားကြသောအခါ တပ် ဗိုလ်နောက်မှပါလာသော တပ်သားသည် မီးဖိုထဲတွင် ဝင် ရောက်ကြည့်ရှုနေရာမှ ပြန်ထွက်လာပြီး

”ဗိုလ်ကြီး၊ မီးဖိုထဲမှာတော့ ဟင်းချိုအိုးတစ်လုံးနဲ့ သိုးခြေထောက်ချက်တစ်အိုး တွေ့ထားတယ် ဗိုလ်ကြီး။ ယူခဲ့ရမလား”

“အေး ယူခဲ့ကြကွာ။ အရက်ချိုလေး ဘာလေးလဲ ရှာစမ်းပါဦးကွ”

# အခန်း ၂၉

ပြင်သစ်တပ်ဗိုလ်နှင့် အတူ အခန်းထဲသို့ဝင်လာသောအခါ ၌ မိမိသည် ပြင်သစ်လူမျိုးမဟုတ်ကြောင်း ပြင်သစ်တပ် ဗိုလ်အား ထပ်မံရှင်းလင်းရန် ဝတ္တရားရှိသည်ဟု ပီယာ တွေးမိပြန်သည်။ ဤနေရာက အမြန်ဆုံးထွက်ခွာသွားမှ . ဖြစ်မည်ဟုလည်း ပီယာတွေးမိသည်။ သို့ရာတွင် ပြင်သစ် တပ်ဗိုလ်ကားပီယာ၏စကားကိုကြားဟန်မရှိချေ။ စင်စစ်၌ ပြင်သစ်တပ်ဗိုလ်မှာ လွန်စွာယဉ်ကျေးသိမ်မွေ့၍ ခင်မင် စရာကောင်းရုံမျှမက သဘောကောင်းသူတစ်ဦးလည်း ဖြစ် ၏။ ပြင်သစ်တပ်ဗိုလ်သည် မိမိအသက်ကို ကယ်ဆယ် ခဲ့သည့်အတွက် ပီယာအားတကယ်ပင် လှိုက်လှိုက်လှဲလှဲ ကျေးဇူးတင်လျက်ရှိလေရာ ပီယာမှာလည်း မငြင်းသာ တော့ဘဲ ၎င်းနှင့်အတူ ဧည့်ခန်းထဲသို့ လိုက်ပါလာပြီး ထိုင်နေရလေသည်။ မိမိ ပြင်သစ်လူမျိုးတစ်ယောက် မဟုတ်ကြောင်းနှင့် ပီယာက ထပ်မံရှင်းပြသောအခါ၌ ပြင်သစ်တပ်ဗိုလ်သည် ဤမျှ သွေးနားထင်ရောက်စရာ ကောင်းသော ဂုဏ်ထူးဝိသေသကြီးကို ငြင်းပယ်ခြင်း ( အတွက် နားမလည်နိုင်ဟန်ဖြင့် ပခုံးနှစ်ဖက်ကို တွန့်လိုက် လျက် ပီယာသည် ရုရှားလူမျိုးတစ်ယောက်အဖြစ်ဖြင့် သာ အသိအမှတ်ပြုခြင်း ခံလိုလျှင်လည်း နောက်ထပ် ဘာမျှမပြောလိုတော့ကြောင်း၊ မိမိအနေဖြင့်မူကား အသက် ကို ကယ်ခဲ့သူတစ်ဦးအနေဖြင့် အစဉ်ကျေးဇူးတင်နေမည် ဖြစ်ကြောင်းဖြင့် ပြောပြ၏။

အကယ်၍သာ ပြင်သစ်တပ်ဗိုလ်သည် အကင်းပါး သူ ဖြစ်ပြီး ပီယာ၏အရိပ်အခြည်ကို နားလည်လိုက်သူမျိုး ဖြစ်လျှင် ပီယာသည် ချက်ချင်းလိုပင် ဝေးရာသို့ ထွက်သွား ကောင်းသွားမည်ဖြစ်သော်လည်း ယခုမူ ပြင်သစ်တပ်ဗိုလ်မှာ မိမိ၏ကိစ္စမှအပ အခြားသူများကို စိတ်ဝင်စားဟန် မရှိသည့်အတွက် ပီယာ

သည် သတင်းအထူးအဆန်း  သိရလို သိရငြားဟူသောသဘောဖြင့် ဆက်၍ ထိုင်နေ လိုက်သည်။

"အေးလေ ခင်ဗျားဟာ ပြင်သစ်တစ်ယောက်ပဲ ဖြစ်ဖြစ်၊ ရုပ်ဖျက်ထားတဲ့ ရုရှားမင်းသားတစ်ပါးပဲဖြစ်ဖြစ် ထားပါတော့။ ဒါက သိပ်အရေးမကြီးပါဘူး" ပြင်သစ် တပ်ဗိုလ်က ပီယာ၏ညစ်ပတ်ပေရေလျက်ရှိသော်လည်း အမျိုးကောင်းဖြစ်သည့် အင်္ကျီအတွင်းအောက်ခံစနှင့် လက်မှ လက်စွပ်ကို ကြည့်၍ ပြောလိုက်၏။ "ကျုပ်အနေနဲ့က တော့ ကျုပ်အသက်ကို ကယ်ခဲ့သူတစ်ဦးဖြစ်တဲ့အတွက် မိတ်ဆွေလိုပဲ သဘောထားမှာပဲ။ ပြင်သစ်လူမျိုးတစ် ယောက်ဟာ မိမိအား စော်ကားခြင်းကိုသော်လည်းကောင်း၊ မိမိအား ကျေးဇူးပြုဖူးခြင်းကိုသော်လည်းကောင်း မမေ့ တတ်ဘူးဆိုတာကိုတော့ သိထားစေချင်သဗျ။ ဒီတော့ ကျုပ်ကတော့ ခင်ဗျားကို မိတ်ဆွေအဖြစ် သဘောထား တာပဲ။ ကျုပ်ကို ခင်ဗျားက အလားတူ ပြန်ပြီးသဘော ထားဖို့ မထားဖို့ကတော့ ခင်ဗျားတာဝန်ပေပဲဗျ။ ဟဲ ဟဲ"

ပြင်သစ်တပ်ဗိုလ်၏အသံ မျက်နှာအမူအရာနှင့် တကွ ကိုယ်အမူအရာတို့မှာ ၎င်း၏စိတ်သဘောကောင်း ခြင်း၊ ရက်ရောမြင့်မြတ်ခြင်း(ရှုံးသူကို ဖိထောင်းခြင်းမပြု သည့်အတွက် မြင့်မြတ်သည်ဟု ၎င်းတို့ဘာသာ ယူဆလေ့ ရှိရာ ဤ နေရာ၌လည်း ပြင်သစ်တို့၏အဓိပ္ပာယ်အရပြော ခြင်း ဖြစ်ပါသည်။) တို့ကို ဖော်ပြလျက်ရှိလေရာ ပီယာ မှာ ပြင်သစ်တပ်ဗိုလ်၏အပြုံးကို မတုံ့ပြန်ဘဲ မနေနိုင်တော့ သည့်အတွက် အမှတ်မထင် ပြန်၍ပြုံးပြလိုက်ရင်း ပြင်သစ် တပ် ဗိုလ်ကမ်းပေးလိုက်သည့်လက်ကို ဆွဲ၍ လှုပ်ယမ်းနေမိ လေသည်။

"ကျုပ်က အမှတ်၁၃ ခြေမြန်တပ်ရင်းက ဗိုလ်ကြီး ရမ်းဗေးပါ။ ဩဂုတ်လ ၂၆-ရက်နေ့က ဖြစ်ပွားခဲ့တဲ့ ဘို ရိုဒီနိုတိုက်ပွဲမှာ ကောင်းစွာအမှုတော်ထမ်းခဲ့တဲ့

အတွက် သူရဘွဲ့ ရခဲ့ပါတယ်” ။

ပြင်သစ်တပ်ဗိုလ်က ၎င်းဘာသာ မိတ်ဆက်ရင်း ဂုဏ်ယူသောအပြုံးမျိုးဖြင့် ပြုံးပြလိုက်လေရာ ၎င်း၏နှုတ် ခမ်းများသည် နှုတ်ခမ်းမွေးများထဲမှ အထင်းသား ပေါ်လာကြ၏။

“ကဲ ကျုပ် ဘယ်သူလဲဆိုတာတော့ ပြောပြီးပြီဗျ။ ကျုပ် ခန္ဓာကိုယ်ကြီးထဲ အရှူးရဲ့ ကျည်ဆန်ဝင်ပြီး ဆေးရုံ တက်ရမယ့်အစား ခုလို ဇိမ်နဲ့ထိုင်ပြီး စကားပြော နေနိုင် , အောင် ကျုပ်ကို ကယ်လိုက်တဲ့ ခင်ဗျား ဘယ်သူ ဆိုတာကို ပြောပြဖို့ ကောင်းသဗျ”

ပီယာက မိမိ၏အမည်ကို ထုတ်ဖော်ပြောဆိုခြင်း မပြုနိုင်ကြောင်း ပြောပြ၏။ ပီယာသည် မျက်နှာနီရဲ သွားရာမှ မိမိ၏အမည်ကို လှီးလွှဲပြောဆိုကာ အဘယ့် ကြောင့် နာမည်ဝှက်ထားရကြောင်းကိုလည်း ယုတ္တိရှိအောင် ပြောမည်ဟု စိတ်ကူးနေဆဲ ပြင်သစ်တပ်ဗိုလ်က ကြား ဖြတ်၍

”သြော် ဟုတ်ပြီ ဟုတ်ပြီ။ ကျုပ် နားလည်ပြီ။ ခင်ဗျားက တပ်ဗိုလ်ထင်တယ်။ အိမ်း၊ တပ်ဗိုလ်မှ ခပ် ငယ်ငယ်ထဲက မဟုတ်ဘဲ ခပ်ကြီးကြီးထဲက ဖြစ်ရမယ် ဗျာ။ လက်စသတ်တော့ ခင်ဗျားက ကျုပ်တို့ကို လက်နက်နဲ့ ခံချခဲ့တဲ့ တပ်ဗိုလ်တစ်ယောက်ကိုး။ ထားပါတော့လေ ဒါက ကျုပ် အလုပ် မဟုတ်ပါဘူး။ ကျုပ် အနေနဲ့ကတော့ ကျုပ်အသက်ကို ကယ်ခဲ့တဲ့လူတစ်ယောက်လို့ပဲ ယူဆ တယ်။ ကျုပ်အဖို့ ဒါလောက်သိရင် တော်ပြီ။ အကူအညီ လိုတယ်ဆိုရင်လဲ ပေးဖို့ အဆင်သင့်ပဲ။ ခင်ဗျား မင်းမျိုး မင်းနွယ်ထဲကပါဗျ။ ကျွန်တော် သိပါတယ်။ မဟုတ်ဘူး လား”

ပြင်သစ်တပ်ဗိုလ်က စူးစမ်းသည့်အနေဖြင့် မေး လိုက်သည်။ ပီယာကား ခေါင်းငုံ့လျက် ရှိ၏။

“ကဲဗျာ မျိုးရိုး မပြောချင်နေ။ ခင်ဗျား နှစ်ခြင်း မင်္ဂလာတုန်းက ကင်ပွန်းတပ်တဲ့နာမည်ကလေးပဲ ပြောဗျာ။ အို မွန်ရှီယာပီယာ ဟုတ်လား၊ ဟုတ်ပြီ။ ဒီလောက်သိရရင် တော်ပြီ တော်ပြီ”

သိုးသားနှင့် ဥအသားညှပ်ကြော် ရောက်လာပြီး နောက် မကြာမီ လက်ဖက်ရည်နှင့် ဗော့ဒ်ကာ အရက် ပြင်းများ ရောက်လာ၏။ ရုရှားအရက်ဖိုတစ်ခုမှ ပြင်သစ် တပ်ဗိုလ်သိမ်းလာသော အရက်ချိုများလည်း လာချလေ သည်။ ပြင်သစ်တပ်ဗိုလ် ရမ်ဗေးသည် ပီယာကို ညစာ စားရန် ခေါ်၏။ ၎င်းကိုယ်တိုင်မှာလည်း ဆာလောင်မွတ် သိပ်လျက် ရှိ၍ ကျန်းမာသန်စွမ်းသည့် လူကြီးတစ်ယောက် ဖြစ်သည့်အလျောက် အစာကို ပါးစပ်ထဲသို့ လောဘတကြီး ဖြင့်သွတ်လျက်ရှိပြီး ခိုင်ခံ့သောသွားများဖြင့် ဝါးရင်းက နှုတ်ခမ်းကိုလည်း တပြတ်ပြတ်လျက်နေလေသည်။ ပါးစပ်  ကလည်း “စားလို့ ကောင်းလိုက်တာဗျာ။ အရသာရှိလိုက် လေဗျာ” ဟု တတွတ်တွတ်ပြောဆိုလျက်ရှိ၏။ ရမ်းဗေး ၏မျက်နှာတွင် သွေးရောင်လျှမ်းကာ ချွေးများယိုစီးလျက် ရှိလေသည်။ ပီယာမှာလည်း ဆာလောင်မွတ်သိပ်လျက်ရှိ ခြင်းကြောင့် ညစာကို အားရပါးရစားလျက် ရှိလေသည်။ နောက်လိုက်တပ်သားမိုရဲသည် ခွက်တစ်ခုထဲတွင် ရေနွေး ခံ၍ ထိုခွက်ထဲ၌ ပြင်သစ်စပျစ်ရည်တစ်လုံးကို ထည့်ပြီး လာပေးပြန်သည်။ မီးဖိုထဲတွင် ရုရှားစိမ်ရည်တစ်လုံးကို တွေ့သဖြင့်လည်း ၎င်း၏ဆရာမြီးစမ်းကြည့်ရန်အတွက် ယူလာပြန်လေသည်။ ပြင်သစ်များသည် ထိုရုရှားစိမ်ရည် ကို မကြာခဏ သောက်ဖူးကြပြီးဖြစ်ရာ ထိုအရက်ကို “ဝက်ဘိလပ်ရည်” ဟု အမည်ပေးထားကြ၏။ မိုရဲက မီးဖိုထဲမှ သူယူလာသည့် ဝက်ဘိလပ်ရည် မည်မျှကောင်း ကြောင်းကို ဋီကာချဲ့လျက် ရှိလေသည်။ သို့ရာတွင် ပြင် သစ်တပ်ဗိုလ်ရမ်ဗေးမှာ မော်စကိုမြို့ထဲမှ ဖြတ်လာခဲ့စဉ် အရက်ချိုရလာခဲ့ပြီဖြစ်သည့်အတွက် ရုရှားစိမ်ရည်ကို မိုရဲ အား သောက်စေပြီး သူကိုယ်တိုင်မှာမူ ပြင်သစ် ဗော်ဒိုး အရက်တစ်လုံး ဖောက်သောက်လျက်ရှိ၏။ ရမ်

ဖေးသည် ဖော်ဒိုးအရက်ပုလင်းကို လက်သုတ်ပဝါတစ်ထည်ဖြင့် ပတ် ၍ကိုင်လိုက်ပြီးနောက် သူ့ခွက်ထဲသို့ လည်းကောင်း၊ ပီယာ ခွက်ထဲသို့ လည်းကောင်း ငှဲ့ပေးနေသည်။ အဆာပြေသွား ပြီဖြစ်သည့်အတွက်ကြောင့် တစ်ကြောင်း၊ အရည်ကလေး ဝင်သွားပြီဖြစ်သည့်အတွက်ကြောင့် တစ်ကြောင်း ရမ်ဖေး မှာ အာရွှင်လျက်ရှိကာ စကားကို ကရားရေလွှတ်ပြော လျက် ရှိ၏။

"တကယ်ပြောတာ မွန်ရှီယာ ပီယာ။ ကျုပ်အသက် ကို အရှုံးလက်ထဲက ကယ်ခဲ့တဲ့အတွက် ကျုပ်မှာ ကျေးဇူး ဆပ်ဖို့ ဝတ္တရားရှိတယ်ဗျ။ ဘာလိုလို့နဲ့ ကျုပ်ခန္ဓာကိုယ် ကြီးထဲမှာလဲ ကျည်ဆန်တွေ မနည်းတော့ဘူးဗျ ဟဲ ဟဲ။

ဟောဒီနားမှာ ကျည်ဆန်တစ်တောင့် ဝါဂရန်တိုက်ပွဲမှာ ရခဲ့တာ။ (နံဘေးကို ထောက်ပြ၏။) ဒုတိယတစ်တောင့်က ဟောဒီမှာ စမိုးလင့်တိုက်ပွဲတုန်းက ရခဲ့တာ။ (ပါးမှ အမာရွတ်ကို ပြသည်။) ခင်ဗျားမြင်နေရတဲ့ ဟောဒီဘက် ခြေထောက်ကလည်း ကောင်းကောင်းလမ်းမလျှောက်ချင် တော့ဘူးဗျ။ ဩဂုတ်လ ၂၆-ရက်နေ့ တုန်းက ဖြစ်ခဲ့တဲ့ ဘိုရို ဒီနိုတိုက်ပွဲရဲ့ ကောင်းမှုလေဗျာ။ တိုက်ပွဲကတော့ အကြိတ်အနယ်ပါ။ နှစ်ဖက်စလုံးက ပစ်လိုက်တဲ့ကျည် ဆန်တွေဟာ မိုးသီးမိုးပေါက်တွေ ကျနေသလိုပဲ။ ဒီတိုက်ပွဲ မှာ ခင်ဗျားတို့လုပ်လိုက်ပုံကတော ့နမူနာယူလောက်ပါပေ တယ်ဗျာ။ တကယ်ပါပဲ။ ခင်ဗျားတို့ ဂုဏ်ယူမယ်ဆိုလဲ ယူသင့်ပါပေတယ်။ ကျုပ်လဲ အဲဒီတိုက်ပွဲမှာတွင် အအိပ် ပျက် အစားပျက်နဲ့ နှာစေးချောင်းဆိုး ဖြစ်လာတာပဲ။ ဒါ ပေမဲ့ အဲဒီလိုတိုက်ပွဲမျိုး တိုက်ရဦးမယ်ဆိုရင်တော့ တစ်ပွဲ တစ်လမ်း လောက် နွှဲလိုက်ချင်သေးသဗျာ။ ဒီတိုက်ပွဲကို ခင်ဗျား မမြင်လိုက်ရတာ နာတာပဲ"

"ကျုပ်ရှိပါတယ်" ပီယာက ပြောလိုက်၏။

"အလို ခင်ဗျားရှိတယ် ဟုတ်စ။ ဟုတ်လိုက်လေ ဗျာ။ အေးဗျ ခင်ဗျားတို့ကတော့ အထင်သေးလို့မရတဲ့ ရန်သူမျိုးပဲ။ ရှေ့စကီခံတပ်ဟာ တော်တော်နဲ့ မကျ

ဘူး။ ကျုပ်တို့တန်ဖိုးတော်တော်ကြီးကြီး ပေးလိုက်ရတယ်။ အဲဒီခံတပ်ကို ကျုပ်တို့ သုံးကြိမ်တိုက်ရတယ်။ သုံးကြိမ် စလုံး ကျုပ်ပါတာပဲ။ သုံးကြိမ်စလုံး ခံတပ်ထဲက အမြောက် မြတပူတွေနားအထိ ရောက်တာပဲ။ ဒါပေမဲ့ ကျုပ်တို့လူတွေ မရဘူး ါ။ သုံးကြိမ်စလုံးအရုပ်ကလေးတွေကို ကောက် ကောက်ပြီး လွှင့်ပစ်လိုက်သလို လန် လန်ကျလာတာချည်း ပဲ။ အဲဒီတိုက်ပွဲကတော့ စံပါပဲဗျာ။ ခင်ဗျားတို့ လက်ပစ် ဗုံး ကိုင် တပ်သားတွေကလဲ တော်တော်လေး တိုက်ရည် ခိုက်ရည်ရှိကြသဗျ။ လူတွေ က သတ္တိလဲ မခေကြဘူး။ ကျုပ်တို့က ခံတပ်စီးမိခါနီးလို့ သူတို့ ဖရိုဖရဲဖြစ်သွား လိုက်၊ ဗိုလ်ရှုသဘင်များတက်သလို လူစုပြီး တန်းစီတက် လာလိုက်နဲ့ ဘတစ်ပြန် ကျားတစ်ပြန် ချလိုက်ရတာ၊ တကယ်အံ့ဖို့ကောင်းတဲ့လူတွေပါ။ တိုက်ရေးခိုက်ရေး ကို အင်မတန်ကျွမ်းကျင်တဲ့ ကျုပ်တို့ ဗိုလ်ချုပ် မူးရတ် ကိုယ်တိုင် တက်တိုက်တော့ မှပဲ ခံတပ်ကို သိမ်းမိပေတော့ တယ်။ လက်စသတ်တော့ ခင်ဗျားက ကျုပ်တို့လို စစ်သား ကိုးဗျ၊ ဟား ဟား။ ကောင်းတယ်၊ ကောင်းတယ်။ ကျုပ် တို့ ပြင်သစ်လူမျိုး တွေဟာ စစ်ပွဲမှာ ဝံပုလွေလိုခက်ထန်ပေ မယ့် မိန်းမချော မိန်းမလှကလေးတွေနဲ့ တွေ့ရင် သိုးငယ် လို ယဉ်ပါးပါတယ်ဗျ။ မဟုတ်ဘူးလား မွန်ရှီယာပီယာ” . ပြင် သစ်တပ်ဗိုလ် ရမ်ဗေးက ပြုံး၍ မျက်လုံးတစ် ဖက် မှိတ်ပြလိုက်သည်။ ရမ်ဗေးမှာ နဂိုကစိတ်နှလုံးကောင်း ရှိသူတစ်ဦးပီပီ အရက်ကလေးထွေလာသောအခါ၌လည်း ရန်မပြုတတ်ဘဲ ခပ်မြူးမြူးဖြစ်လာကာ လျှာသွက်လျက် ရှိလေပြီ။ ပီယာသည် ရွှင်မြူးလျက် ရှိသော ပြင်သစ်တပ် ဗိုလ် ရမ်ဗေးကို ကြည့်၍ ပျော်သလိုလို ဖြစ်လာ ကာ မျက်စိ တစ်ဖက်ကိုပင် ပြန်၍မှိတ်ပြလိုက်မိသေးသည်။ ပြင်သစ် တပ်ဗိုလ် ရမ် ဗေးသည် မိန်းမချော မိန်းမလှဟူသောစကား ကြောင့် မော်စကိုမြို့အကြောင်းကို အမှတ်ရလာဟန်ဖြင့် ' “ဒါထက် နေစမ်းပါဦးဗျ။ ခင်ဗျားတို့ ရုရှားအမျိုး သမီးတွေ အားလုံး မော်စကိုမြို့က ထွက်သွားကြပြီဆို ဟုတ်လား။ အတော်ကျော်တာပဲဗျ။ ဘာများ ဒီလောက် ကြောက်နေကြရတာတဲ့လဲ”

“ကျုပ်တို့ ရှရှားတပ်တွေ ပါရီမြို့ထဲ ဝင်ရင်ကော ခင်ဗျားတို့ ပြင်သစ် အမျိုးသမီးတွေ ထွက်ပြေးကြမှာပဲ မဟုတ်လား”

“ဟား ဟား ဟား။ ခင်ဗျားပြောတာလဲ သိပ် တော့ မရိုင်းဘူးဗျ။ ဟုတ်တယ်၊ ဟုတ်တယ်။ အင်း ပါရီ ပါရီ ပါရီဆိုတဲ့”

ပြင်သစ်တပ်ဗိုလ်သည် အူလှိုက်သည်း လှိုက်ရယ် ကာ ပီယာ၏ပခုံးကို တ ဖျတ်ဖျတ်ပုတ်နေ၏။

“ဟုတ်တယ်လေ၊ ပါရီ။ ကမ္ဘာ့ရွှေမြို့တော်ကြီးလို့ ခင်ဗျားတို့ခေါ်တဲ့ ပါရီ” ပီယာက ဝင်၍ထောက်လိုက်၏။

ပြင်သစ်တပ်ဗိုလ် ရမ်ဗေးသည် ပီယာကို ကြည့် လိုက်၏။ ရမ်ဗေးသည် စကားကိုဆုံးအောင် ပြောလေ့မရှိ ဘဲ တစ်ဝက်တွင် ဖြတ်ထားလိုက်ပြီး ရီဝေ ရွှင်ပြုံးသော မျက်လုံးများဖြင့် စိုက်၍ ကြည့်တတ်၏။

“အင်း၊ တကယ်လို့သာ ခင်ဗျားကိုယ်တိုင်က ရှရှားလူမျိုးတစ်ယောက်ပါလို့ ထုတ်မပြောခဲ့ရင် ကျုပ်တော့ ခင်ဗျားကို တကယ့်ကို ပါရီရွှေမြို့တော်သားစစ်စစ် တစ်ဦးလို့ ထင်မိမှာပဲဗျ။ ခင်ဗျားရဲ့ လေယူလေသိမ်း ဟန်အမူအရာ”

ပြင်သစ်တပ်ဗိုလ်သည် ဤတစ်ကြိမ်၌လည်းစကား ကိုဆုံးအောင်မပြောဘဲ ဖြတ်ထားပြီး ပီယာကို စိုက်ကြည့် နေပြန်သည်။

“ကျုပ် ပါရီမှာ နှစ်ပေါင်းအတော်ကြာကြာ နေဖူး သားပဲ”

“အလို ဟုတ်လှချည်လား၊ ကဲ ကျုပ်တွေးတာ မမှန်ဘူးလား။ အင်း ခင်ဗျား ပြောတာနဲ့ ပါရီရွှေမြို့တော် ကြီးကိုတောင် လွမ်းလာပြီဗျ။ ဒီမှာ မွန်ရှီယာပီယာ၊ ပါရီရွှေမြို့တော်ကြီးအကြောင်းကို မသိတဲ့လူဟာ အရိုင်း အစိုင်း တောတွင်းသား တစ်ယောက်ပဲဗျ။ ပါရီရွှေမြို့တော် သားဆိုရင် နှစ်တိုင်လောက်ကနေ လှမ်းကြည့်

လဲ ခွဲခြား လို့ ရတာပဲ။ ပါရီရွှေမြို့တော်ကြီးဟာ တခြားမဟုတ်ဘူး ဒါ့။ ကျုပ်တို့ ရွှေနန်းရှင် ဧကရာဇ်ရဲ့ အသည်းစွဲ အလွမ်း မင်းသမီးတယ်လမာရယ်၊ ဇာတ်မင်းသမီးကြီး ဒူချယ်နို ရယ်၊ လူရွှင်တော်ကြီး ပိုတီးယားရယ်၊ ဆိုရာဘွန်းတက္က (သိုလ်ကျောင်းတော်ကြီးရယ်၊ အင်မတန်မှ လှပတဲ့ရှုခင်း သာလမ်းမတွေရယ် အဲဒါ တွေအားလုံး ပေါင်းလိုက်ရင် ( ပါရီရွှေမြို့တော်ကြီးပဲ”

ပြင်သစ်တပ်မိုလ် ရမ်ဖေးက ဆို၏။ သို့ရာတွင် ( ပါရီရွှေမြို့တော်ကြီး၏ ကြီးကျယ်ခမ်းနားလှပတင့်တယ် ပုံကို ဤမျှစာဖွဲ့ ရရုံမျှဖြင့် လုံလောက်ခြင်းမရှိ သေးဟု ယူဆဟန်ရှိကာ

”ကမ္ဘာမှာ ပါရီရွှေမြို့တော်လို မြို့ကတော့ တစ်ခု တည်းပဲ ရှိတယ်ဗျ။ ခင်ဗျားနှယ်ဗျာ၊ ပါရီရွှေမြို့တော်ကို ရောက်ဖူးရက်သားနဲ့များ ရုရှားလူမျိုးအဖြစ် ဆက်နေချင် တယ် ရှိရသေးကိုးဗျ။ အေးလေ၊ ပါရီရွှေမြို့တော်ကို ရောက်ဖူးတယ် ဆိုရင်ပဲ ခင်ဗျားကို ကျုပ် မလေးစားလို့ မဖြစ်ပေဘူးပေါ့” . ပီယာမှာ လွန်ခဲ့သော ရက်များက စိတ်ညစ်ညူး စရာများနှင့်ချည်း ကြုံတွေ့ခဲ့ရာ ယခုအချိန်၌ကား အရက် ကလေးဝင်သွားပြီဖြစ်သည့်အတွက် စိတ်နှလုံးကောင်းရှိ၍ ပျော်ပျော်နေ တတ်သော ပြင်သစ်တပ်မိုလ်နှင့် တဖြည်း ဖြည်း အကျွမ်းဝင်ကာ စကားလက်ဆုံကျစ ပြုလာလေပြီ။

“ကဲ၊ ခင်ဗျားတို့ ရုရှားမတွေအကြောင်း ပြန်ဆက် ရဦးမယ်။ တော်တော် ချစ်စရာကောင်းဆိုဗျ။ ဟဲ ဟဲ။ ပြင်သစ်တပ်မတော်ကြီး မော်စကိုမြို့ထဲရောက်နေ တဲ့အချိန် မှာ ဘယ်လိုစိတ်ကူးနဲ့များ တောကြီးမျက်မည်းထဲ သွားပုန်း နေကြတာပါ လိမ့်မဗျာ။ ကျုပ်ဖြင့် အံ့သြလို့ မဆုံးဘူး။ ခုတော့ ခင်ဗျားတို့ရုရှားမတွေ အခွင့်အရေးကောင်းကြီး လက်လွတ်သွားတာပေါ့ဗျ ဟဲ ဟဲ။ တောသူ တောင်သား တွေက ကျုပ်တို့ကို ကြောက်လို့ ပုန်းတယ်ဆိုရင် ထား ပါတော့။ ကျုပ် ဒီလောက်မ

အံ့ဩပါဘူး။ ဘာမှ နား မလည်ကြရှာပဲကိုး။ ဒါပေမဲ့ ခင်ဗျားတို့လို မြို့ကြီးသား လူယဉ်ကျေးတွေကတော့ ကျုပ်တို့အကြောင်းကို သိဖို့ ကောင်းသဗျ။ ခု ကျုပ်တို့ တပ်တွေက ဗီယင်နာကိုလဲ သိမ်းခဲ့ပြီဗျာ။ ဘာလင်ကိုလဲ သိမ်းခဲ့ပြီဗျာ။ မက်ဒရစ်၊ နေပယ်၊ ရောမ၊ ဝါဆောစတဲ့ ကမ္ဘာ့မြို့တော်ကြီးတွေ မှန်သမျှကို သိမ်းခဲ့ပြီးပြီဗျာ။ ကျုပ်တို့ကို ကြောက်ပေမယ့် မမုန်းကြပါဘူးဗျ။ ကျုပ်တို့က လူရိုင်းတွေ မဟုတ်ပါဘူး။ ကျုပ်တို့ရဲ့ ဘုန်းတော်ကြီးလှသော ရွှေနန်းရှင်ဘုရား ဆိုရင်”

ဤတွင် ပီယာက ကြားဖြတ်၍

”ရွှေနန်းရှင် ဘုရား ဟုတ်လား” ပီယာသည် ပြင် သစ်တပ်ဗိုလ် ရမ်ဗေး၏စကားကို သံယောင်လိုက်၍ ဆို လိုက်သည်။ ပီယာ၏မျက်နှာမှာ ရုတ်ခြည်း ရဲတက်လာ ၏။ “နေပါဦးဗျ။ ရွှေနန်းရှင်ဘုရားက ဘာဖြစ်သလဲ”

“အို၊ ရွှေနန်းရှင်ဘုရားအကြောင်းတော့ စာဖွဲ့ လို့ မကုန်ဘူး။ ရွှေနန်းရှင်ဘုရားသည် သဘောကြီးမြတ်ခြင်း ၏တည်ရာ၊ သနားကြင်နာခြင်း၏ စုဝေးရာ၊ တရားမှန် ကန်ခြင်း၏မှီခိုရာ၊ အမိန့်အာဏာ၏လဲလျောင်းရာ၊ ဉာဏ် ပညာပါရမီကြီးမြတ်ခြင်း၏ ကိန်းဝပ်ရာ၊ အဲဒီကောင်းခြင်း အဝဝတည်ရှိရာဟာ ရွှေနန်းရှင်ဘုရားပဲဗျ။ ဒီစကားကို ကျုပ် အကျယ်ချဲ့ပြီးပြောနေတာ မဟုတ်ဘူးနော်။ ရမ်း ဆိုတဲ့ ပြင်သစ်လူမျိုးတစ်ယောက်က ပြောနေတာ။ လွန် ခဲ့တဲ့ ရှစ်နှစ်လောက်ကဆိုရင် ရွှေနန်းရှင်ဘုရားနဲ့ ကျုပ်ဟာ တကယ့်ရန်သူကြီးတွေပဲ။ ကျုပ်ခမည်းတော်ဟာ အညတရ ပုဂ္ဂိုလ် မဟုတ်ဘူးဗျ။ မင်းဆိုးမင်းညစ်ကို မကြိုက်လို့ ထောင်ထားခြားနားပြီး ထွက်ပြေးလာရတဲ့ မြို့စားကြီး တစ်ယောက်ပဲ။ ဒါပေမဲ့ နပိုလီယန်ကျတော့ ကျုပ်တို့ မလွန်ဆန်နိုင်တော့ဘူး။ ဒီလူက ကျုပ်တို့အပေါ်မှာ သြဇာ လွှမ်းသွားပြီ။ ဒီလောက် ကြီးကျယ်မြင့်မြတ်တဲ့ဘုန်း လက်ရုံး၊ တန်ခိုးတေဇော် အရှိန်အဝါကို ဖြန့်ပြီး ဝါး အစည်းပြေသလိုဖြစ်နေတဲ့ ပြင်သစ်နိုင်ငံတော်ကြီးကို တစ် သွေးတည်း

တစ်သားတည်းဖြစ်အောင် စုစည်းထူထောင် တာ မြင်ရတော့ ကျုပ် မကြည်ညိုဘဲ နေလို့ မရတော့ဘူး။ မလေးစားဘဲ နေလို့မရတော့ဘူး။ ကျုပ်တို့ ပြင်သစ်နိုင်ငံတော်ကြီးကို သူ ဦးဆောင်ပြီး ကမ္ဘာ့အောင်ပန်းကြီးကို ဆွတ်လှမ်းတာမြင်ရတော့ "ဒီလူဟာ ဘုန်းလက်ရုံးပြည့်စုံ တဲ့ မင်းကေရာဇ်တစ်ပါးပဲ"လို့ ယူဆပြီး သူ့ထံမှာ သစ္စာ ခံလိုက်တာပဲ။ အင်း မွန်ရှီယာပီယာရေ့၊ ရွှေနန်းရှင် ဘုရားကတော့ ခေတ်တကျွတ်တွေမှာ အကြီးမြတ် ဆုံးသော ဝိသေသထူးတဲ့ ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်ကြီးပဲဗျ။ အတိတ်မှာပဲဖြစ်ဖြစ်၊ ပစ္စုပ္ပန်မှာပဲ ဖြစ်ဖြစ်၊ အနာဂတ် မှာပဲ ဖြစ်ဖြစ်"

"ခု ရွှေနန်းရှင်ဘုရား မော်စကိုမှာပဲလား" ပီယာ က မလုံမလဲဖြင့် မေးလိုက်သည်။

ပြင်သစ်တပ်ဗိုလ် ရမ်ဗေးသည် ပီယာ၏မလုံမလဲ မျက်နှာကို ကြည့်၍ ပြုံးကာ

"ဟင့်အင်း၊ ရွှေနန်းရှင်ဘုရားဟာ နက်ဖြန်ကျမှ မော်စကိုမြို့ကို ဝင်တော်မူလိမ့်မယ်ဗျ"

ဤသို့နှစ်ယောက်သား စကားလက်ဆုံကျနေစဉ်၌ ဝင်းတံခါးဆီမှ အော်သံများကြားရပြီးနောက် နောက်လိုက် ( တပ်သား မိုရဲ ရောက်လာသဖြင့် စကားပြတ်သွားကြ၏။ ဝါတင်ဘတ်မြင်းတပ်သားအချို့ ရောက်လာ၍ ၎င်းတို့ မြင်းများထားရန်အတွက် ရမ်ဗေး၏မြင်းများကို မြင်းဇောင်း ထဲမှ အဖယ်ခိုင်းနေကြောင်းဖြင့် မိုရဲက ပြောပြသည်။ အထူးသဖြင့် ဝါတင်ဘတ်မြင်းတပ်သားများမှာ (၎င်းတို့မှာ နပိုလီယန်၏တပ်တွင် အမှုထမ်းနေသော ဂျာမန်မြင်းတပ် များ ဖြစ်၏။) ပြင်သစ်စကားကို နားမလည်သဖြင့် ပြင်သစ် တပ်သားများနှင့် စကားများကာ အဆင်မပြေဖြစ်လျက် ရှိ၏။

ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် ဝါတင်ဘတ်မြင်း ( တပ်မှ တပ်ကြပ်ကြီးတစ်ဦးကို လှမ်းခေါ်ကာ လေသံခပ် တင်းတင်းဖြင့် တပ်ရင်းအမည်၊ တပ်ရင်းမှူးအမည်များ နှင့်တကွ မည်သည့်အခွင့်အာဏာဖြင့် ဤသို့စခန်းချထား သောအိမ်တစ်အိမ်ကို အတင်းတောင်းရခြင်းဖြစ်ကြောင်း မေးမြန်းလျက်ရှိ၏။ ပြင်သစ်စကားအနည်းအကျဉ်းမျှသာ တတ်သော ဂျာမန်တပ်ကြပ်ကြီးက ၎င်း၏တပ်ရင်းနှင့် တပ်ရင်းမှူးအမည်ကို ပြောပြ၏။ သို့ရာတွင် နောက်ဆုံး မေးခွန်းကိုမူ ကောင်းစွာနားလည်ခြင်း မရှိရကား မိမိမှာ တပ်ရင်း၏တပ်ထောက်ဖြစ်၍ တပ်ရင်းမှူးက အိမ်များ အားလုံးကို သိမ်းရမည်ဟု အမိန့်ပေးသည့်အတွက် သိမ်း ရခြင်း ဖြစ်ကြောင်းကို ပြင်သစ်စကားတစ်ဝက် ဂျာမန် စကားတစ်ဝက်ဖြင့် ပြောဆိုလျက် ရှိ၏။ ပီယာမှာ ဂျာမန် စကားတတ်သူဖြစ်သည့်အတွက် ဂျာမန်တပ်ကြပ်၏စကား ကို ရမ်ဖေးအား ဘာသာပြန်ပြရပြီး ရမ်ဖေး၏အဖြေကို  လည်း ဂျာမန်တပ်ကြပ်အား ဂျာမန်ဘာသာဖြင့် ရှင်းပြ ရ၏။ နောက်ဆုံး၌ ဂျာမန်တပ်ကြပ်သည် သဘောပေါက် သွားကာ အရိုအသေပြုပြီးနောက် ၎င်း၏လူများကို ခေါ် ၍ ထွက်သွားလေသည်။ ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် ဆင်ဝင်အောက်သို့ ထွက်သွားကာ ၎င်း၏တပ်သားများအား တစ်စုံတစ်ရာကို အော်ဟစ်အမိန့်ပေးလျက် ရှိ၏။

အခန်းထဲသို့ ပြင်သစ်တပ်ဗိုလ်ရမ်ဖေး ပြန်ဝင်လာ သည့်အချိန်၌ ပီယာသည် ယခင်ကနေရာတွင်ပင် မေးကို လက်နှစ်ဖက်ထောက်၍ ထိုင်နေ၏။ ပီယာ၏မျက်နှာမှာ ညှိုးငယ်လျက် ရှိသည်။ ထိုအချိန်တွင် ပီယာ၏ရင်တွင်း၌ လည်း ယောက်ယက်ခတ်လျက်ရှိသည်။ ပြင်သစ်တပ်ဗိုလ် ရမ်ဖေး ပြန်ထွက်သွား၍ တစ်ယောက်တည်း ကျန်ခဲ့သော အခါကျမှ ပီယာသည် မိမိရောက်ရှိနေသော အခြေအနေကို ပြန်၍သတိရကာ ရင်နင့်လာသည်။ မော်စကိုမြို့ ကျဆုံး ခြင်း၊ အောင်နိုင်သူများက မော်စကိုမြို့တွင် မင်းမူနေခြင်း၊ မိမိအား ဩဘာပေးနေခြင်း စသည်တို့သည် ရင်နာစရာ များ ဖြစ်သော်လည်း ပီယာသည် ထိုအခြေအနေများ

ကို ရင်နာခြင်း မဟုတ်ချေ။ မိမိ၏ပျော့ညံ့အားနည်းချက်ကို သာ ရင်နာမိခြင်း ဖြစ်လေသည်။ မိမိသည် ရန်သူပေးသော အရက်ချိုကို သောက်ခဲ့၍ ရန်သူတစ်ယောက်နှင့် စကား ပြောခဲ့မိလေပြီ။ ဤအဖြစ်သည် မိမိစိတ်ထဲတွင် အပတ် တကုတ်အားထုတ်ခဲ့ရသော အကြံအစည်ကြီး အောင်မြင် ရေးအတွက် အဓိကလိုအပ်သော စိတ်ဓာတ်ကြံ့ခိုင်ခြင်းကို ဖျက်ဆီးလိုက်လေပြီဟု တွေးကာ ယူကြုံးမရ ဖြစ်မိသည်။

ပြောင်းတိုသေနတ်၊ ဓားမြှောင်နှင့် လယ်သမားဝတ်စုံမှာ ယခု အဆင်သင့်ရှိသည် မဟုတ်လော။ နပိုလီယန်သည် လည်း နက်ဖြန်တွင် မော်စကိုသို့ ဝင်တော့မည် မဟုတ် လော။ ကမ္ဘာကြီးကို ဒုက္ခပေးပေသည့် ဤဂြိုဟ်ကောင် ကို အစတုံးစေခြင်းသည် အဓိပ္ပာယ်လည်း ပြည့်စုံ၍ ဂုဏ် လည်း ရှိသည် မဟုတ်ပါလော။ သို့ရာတွင် ယခုအချိန်၌ နပိုလီယန်အား သတ်မည်ဟူသောမာန်တို့သည် ပီယာ၌ လျော့သွားခဲ့လေပြီ။ အဘယ်ကြောင့် ဤသို့ စိတ်ဓာတ် ပျက်ပြားသွားခြင်းကို ပီယာ မသိသော်လည်း မိမိ၏အကြံ အစည်မှာ အောင်မြင်တော့မည်မဟုတ်တော့ဟု ယူဆလျက် ရှိလေသည်။ ပီယာသည် မိမိ၏စိတ်ဓာတ်ပျော့ညံ့မှုကို အတင်းနှိပ်ကွပ်ဖျောက်ဖျက်ပစ်၏။ သို့ရာတွင် ထိုပျော့ ချက်ကို ကျော်လွှား၍ မရတော့ချေ။ လက်စားချေခြင်း၊ လူသတ်ခြင်း၊ အသက်ကို စွန့်ခြင်းစသည့် ယခင်က တက်ကြွလျက်ရှိသော မာန်တို့သည် ပြင်သစ်တပ်ဗိုလ် ရမ်ဗေးနှင့် ပထမဆုံးတွေ့လိုက်သည်နှင့် တစ်ပြိုင်နက် မြူမှုန်များပမာ လွင့်ပျောက်၍ သွားကြလေပြီ။

ပြင်သစ်တပ်ဗိုလ် ရမ်ဗေးသည် လေချွန်လျက် ဆော့နဲ့ ထော့နဲ့ဖြင့် အခန်းထဲသို့ ပြန်ဝင်လာ၏။

ခပ်စောစောက ပြင်သစ်တပ်ဗိုလ်ရမ်ဗေး၏စကား များကို နားထောင်ရသည်မှာ ပျော်သလိုလိုရှိသော်လည်း ယခုမူ စက်ဆုပ်ဖွယ်ကောင်းနေသည်ဟု

ထင်၏။ ရမ်ဖေး လေချွန်ပုံ၊ လမ်းလျှောက်ပုံ၊ မုတ်ဆိတ်မွေးကို သပ်ပုံတို့ သည် မိမိ အား စော်ကားနေခြင်း ဖြစ်သည်ဟု ထင်လာ၏။

"အင်း မဖြစ်ဘူး မဖြစ်ဘူး။ ငါ သွားမှ ဖြစ်မယ်။ ငါ ဒီကောင်ကိုလဲ စကားမ ပြောဘဲနေမှ ဖြစ်မယ်" ဟု ပီယာတွေး၏။ ဤသို့သာတွေးနေသော်လည်း ထိုင်ရာ မှ မထသေးချေ။ ပီယာ၏စိတ်အား ပျော့ညံ့ချက်သည် သူ့ကို ဤနေရာမှ ခွာ၍မ ဖြစ်အောင် တုပ်နှောင်ထားသကဲ့သို့ ရှိ၏။ ပီယာသည် ဝေးရာသို့ ထွက်သွားလို သော်လည်း မသွားနိုင်သေးချေ။

ပြင်သစ်တပ်ဗိုလ်ရမ်ဖေးကား အထူးရွှင်မြူးလျက် ရှိ၏။ ရမ်ဖေးသည် အခန်း ထဲတွင် နှစ်ပတ်ခန့် ခေါက်တုံ့ ခေါက်ပြန် လမ်းလျှောက်နေ၏။ ၎င်း၏မျက်လုံး များသည် တောက်ပလျက်ရှိ၏။ တစ်ယောက်တည်း သဘောကျရာ မှ ပြုံးတော့ မည့်ဟန်ဖြင့် နှုတ်ခမ်းမွေးများကလည်း တလှုပ် လှုပ်ဖြစ်နေကြ၏။

"ဝါတင်ဘတ်မြင်းတပ်က ဗိုလ်မှူးကြီးက လူပျော် ကြီးဗျ။ လူကတော့ ဂျာမန်ပဲ။ ဒါပေမဲ့ တော်တော် သဘောကောင်းပုံ ရတယ်။ ဒါပေမဲ့ ဂျာမန်ကြီး ဖြစ် နေတာ တော့ မနိပ်ဘူးဗျ။ ဒါထက် ခင်ဗျားက ဂျာမန်လိုလဲ တတ်တယ်နော်"

ပြင်သစ်တပ်ဗိုလ်ရမ်ဖေးက မျက်နှာချင်းဆိုင်တွင် ဝင်ထိုင်လိုက်သည်။

ပီယာသည် မည်သို့မျှပြန်မပြောဘဲ ရမ်ဖေးကို ကြည့်နေသည်။

"အကာအကွယ်" ကို ဂျာမန်လို ဘယ်လို ခေါ် သလဲဗျ"

"အကာအကွယ်" လား၊ ဂျာမန်လို အန်ဒါကွန့် လို့ ခေါ်တယ်"

"ဘယ်လိုဗျ" ဟု ရမ်ဖေးက ထပ်မေးသည်။ "အန်ဒါကွန့်" .

”အွန်တာတော့ ဟုတ်လား။ အွန်တာကော့” ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် အမှားမှားအယွင်းယွင်း လိုက်ဆိုကာ ပီယာကို ပြုံးရွှင်သောမျက်လုံးများဖြင့် အတန် ကြာကြည့်လျက်ရှိ၏။ “ဒီဂျာမန်ကောင်တွေက ထူတဲ့၊ အတဲ့၊ ဖျင်းတဲ့နေရာ မှာတော့ နိုးတူးပဲဗျ။ မဟုတ်ဘူးလား မွန်ရှီယာပီယာ”

ပြင်သစ်တပ်ဗိုလ် ရမ်ဖေးက မေးလိုက်၏။ တစ် ဆက်တည်းပင် ။

“ကဲ ကျုပ်တို့ မော်စကိုဖော်ဒိုး အရက်တစ်လုံး လောက်တော့ ထပ်ချကြဦးစို့ ဗျာ။ ဘယ့်နှယ်လဲ ချမယ် မဟုတ်လား။ ကျုပ်တို့ သွေးပူလာအောင် မိုရဲက နောက်ထပ် အရက်ကလေး တစ်ပုလင်းလောက်တော့ ထုတ်ပေး ပါလိမ့်ဦးမယ် ထင်ပါရဲ့ ဗျာ။ မိုရဲရေ၊ မိုရဲ”

ပြင်သစ်တပ်ဗိုလ်ရမ်ဖေးက ခပ်သွက်သွက် လှမ်း ခေါ်လိုက်၏။

မိုရဲသည် ဖယောင်းတိုင်အချို့နှင့် အရက်ချိုတစ် ပုလင်းကို ထုတ်လာသည်။ ပြင်သစ်တပ်ဗိုလ်ရမ်ဖေးသည် ဖြာထွက်လျက်ရှိသော ဖယောင်းတိုင် မီးရောင် အောက်မှ ပီယာ၏မျက်နှာကို လှမ်းကြည့်လိုက်သည်တွင် ပီယာ မျက်နှာမကောင်း သည်ကို မြင်လိုက်ရသဖြင့် အံ့အား သင့်သွားသည်။ ရမ်ဖေးသည် တကယ်ပင် ပီယာအတွက် စိတ်မကောင်းဖြစ်သွားကာ ပီယာအနီးသို့ လျှောက်လာပြီး ငုံ့၍ ပီယာလက်ကို ဆွဲလိုက်လျက်

”ဘာဖြစ်လို့လဲဗျ စိတ်ညစ်သွားသလား။ ကျုပ် ခင်ဗျား စိတ်အနှောင့်အယှက်ဖြစ်အောင် လုပ်မိသလား။ ကျုပ်အပေါ်မှာ ဘာမကျေနပ်တာ ရှိသလဲဟင်၊ ခင်ဗျားတို့ စစ်ရှုံးလို့လား”

ပီယာသည် မည်သို့မျှ ပြန်မပြောဘဲ ပြင်သစ်တပ် ဗိုလ်ရမ်ဖေး၏မျက်လုံး များကို စိုက်ကြည့်နေသည်။ ရမ်ဖေး ၏မျက်လုံးများတွင် တကယ်ပင်ကြင်နာသည့်

အရိပ် အယောင် ယှက်သန်းလျက်ရှိသည်ကို မြင်ရသဖြင့် ပီယာ မှာ ကျေနပ်သလို လို ဖြစ်သွားသည်။

"တကယ်ပြောတာပါဗျာ။ ကျုပ်အပေါ်မှာ ခင်ဗျား ကျေးဇူးရှိတာ မရှိတာ အပထားပါ။ ကျုပ် ခင်ဗျားကို မိတ်ဆွေ ရောင်းရင်းဟောင်း တစ်ယောက်လို လှိုက် လှိုက် လှဲလှဲ ခင်တာပါ။ ကျုပ် ဘာအကူအညီ ပေးရမလဲဟင်။

ပြောပါ အားမနာပါနဲ့။ ကျုပ် တကယ်ပြောတာပါ။ အသည်းနှလုံးထဲက ပြော တာပါ"

ရမ်ဖေးက သူ့ရင်ဘတ်ကို ပုတ်ပြသည်။

"အေးဗျာ ကျေးဇူးတင်ပါတယ်" ပီယာက ပြော လိုက်သည်။

ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် "အွန်ဒါကွန့်" ဟူ သော ဂျာမန်စကားကို သင်စဉ်ကကဲ့သို့ ပီယေ့ာမျက်နှာကို စိုက်ကြည့်နေရာမှ ၎င်း၏မျက်နှာသည် ချက်ချင်းဝင်းထိန် လာသည်။

"ကဲဗျာ၊ ဒါဖြင့် ကျုပ်တို့နှစ်ယောက်ရဲ့ "ရောင်းရင်း မိတ်ဆွေ ချစ်ကြည်မှုကို ရည်စူးပြီး ထပ်နိုပ်လိုက်ကြဦး စို့ရဲ့" ပြင်သစ်တပ်ဗိုလ်ရမ်ဖေးက ခပ်ရွှင်ရွှင်ကလေး ပြော ကာ ဖန်ခွက်နှစ်ခွက်ထဲသို့ အရက်ချိုများကို ငှဲ့လိုက်သည်။

ပီယာသည် အရက်ခွက်ကိုယူ၍ တစ်ကျိုက်တည်း သောက်ချလိုက်၏။ ပြင် သစ်ဗိုလ်ရမ်ဖေးကလည်း အလား တူမော့ချလိုက်ကာ ပီယာ၏လက်ကိုဆုပ်၍ စားပွဲကို တံ တောင်ဆစ်ဖြင့် ထောက်ရင်း နေသည်။ အတန်ကြာမှ

"ရောင်းရင်းရေ့ ကံတရားဟာ တယ်ပြီး အလှည့် စားသန်တယ်ဗျ။ ကြည့် စမ်း ကျုပ်ဟာ ကျုပ်ရန်သူ ဘိုနာ ပတ်(အဲဒီတုန်းကတော့ ဒီအတိုင်းခေါ်တာပေါ့ ဗျာ။) ရဲ့ လက်အောက်မှာ ခြေလျင်မြင်းစီးတပ်သား ဗိုလ်ကြီးတစ် ယောက်ဖြစ်လာ

လိမ့်မယ်လို့ ဘယ်သူ မျှော်လင့်မလဲ။ ဟော ခုတော့ ကျုပ် သူနဲ့ အတူ မော်စကိုကို ရောက်နေရပြီဗျ။ ရောင်းရင်းကြီးကို ပြောလိုက်ရဦးမယ်။ ဟင်း“ပြင်သစ် တပ်ဗိုလ် ရမ်ဗေးသည် ဇာတ်လမ်းရှည်ကြီးကို ပြောတော့ မည့် လူတစ်ယောက်ကဲ့သို့ လေး ရဲ့ စွာညည်း၍ အစပျိုး လိုက်သည်။

“ကျုပ်တို့ အမျိုးဟာ ပြည်သစ်ပြည်မှာ ရှေးအကျ ဆုံး ဆွေကြီး မျိုးကြီးထဲ ကပဲဗျ”

ပြင်သစ်တို့၏ရိုးသားပွင့်လင်းခြင်းဖြင့် ရမ်ဗေး သည် ၎င်း၏ မျိုးရိုးစဉ်ဆက်၊ ၎င်း၏ကလေးဘဝ၊ ၎င်း၏ ကာလသားဘဝ၊ ၎င်း၏ လူလတ်ပိုင်းဘဝနှင့်တကွ ၎င်း၏  ဆွေမျိုးများ၊ စီးပွားရေးနှင့် အိမ်တွင်းရေးများစသည်တို့ ကို ပြောပြလေ သည်။ အချစ်ဇာတ်လမ်းကလေးများကို ကား အထူးတလည် အလေးအနက်ပြု၍ ပြောသွားလေ သည်။

“အဲ အဲဒါတွေကတော့ ကျုပ်ဘဝရဲ့ နောက်ခံကား သက်သက်ပဲလို့ ဆိုကြပါ စို့ဗျာ။ အရေးကြီးဆုံးကတော့ နောက်ခံကားရှေ့မှာ ထွက်ကတဲ့ဇာတ်ဆောင်ပဲဗျ။ အဲဒီ နောက်ခံကားပေါ်မှာ ထွက်ကတဲ့ ဇာတ်ဆောင်ကတော့ တခြားသူမဟုတ်ဘူး ရောင်းရင်းရှေ့၊ အချစ်ဗျ အချစ်။ ကျုပ်တို့ လူ့ဘဝနောက်ခံ ကားကြီးပေါ်မှာ ထွက် ကတဲ့ ဇာတ်ဆောင်တွေအနက် အချစ်ဟာ အရေးအကြီးဆုံး ဇာတ်ဆောင်ပဲဗျ။ ကျွန်တော်ပြောတာ မဟုတ်ဘူးလားဗျာ ရောင်းရင်းကြီး” ပြင်သစ်တပ်ဗိုလ် ရမ်း သည် စကား ပြောရင်း စိတ်ပါလာစပြုရာက

”ကဲ နောက်တစ်ခွက်ချကြဦးစို့ဗျ”

ပီယာသည် တစ်ခွက်ကုန်အောင် မော့ပစ်လိုက်ပြီး နောက် တစ်ခွက် ထပ်ငှဲ့ လိုက်သည်။

“အင်း၊ မိန်းမ မိန်းမ” ပြင်သစ်တပ်ဗိုလ်ရမ်ဗေး သည် တောက်ပလျက်ရှိသောမျက်လုံးများဖြင့် ပီယာကို ကြည့်ရင်း အချစ်အကြောင်းနှင့်တကွ ၎င်း၏အချစ်ရေး ကိစ္စများကို ပြောပြလျက်ရှိသည်။

ပြင်သစ်တပ်ဗိုလ်ရမ်ဗေး၏ အချစ်ဇာတ်လမ်းများ ကား များပြားလှပေ၏။ ၎င်း၏ ချောမောခန့်ညား၍ ကျေနပ်နှစ်သိမ့်နေဟန်ရှိသော မျက်နှာထားကို ကြည့်ခြင်း အားဖြင့် လည်းကောင်း၊ စိတ်အားထက်သန်စွာ ပြောပြ နေသည်ကိုထောက်ခြင်းအားဖြင့် လည်းကောင်း ရမ်ဗေး၏ ဇာတ်လမ်းများမှာ “လန်ကြုတ်” ဇာတ်လမ်းများ ဟုတ်ဟန် မတူဘဲ တကယ့်အဖြစ်အပျက်များဖြစ်ဟန် ရှိ၏။ တဏှာ ရာဂကိစ္စသည် အချစ်၏အထူးနှစ်လိုဖွယ်ကောင်းသော အစိတ်အပိုင်း၊ အထူးနူးညံ့သောအကိုင်းအခက်ဟု ပြင်သစ် လူမျိုးများ ယူဆလေ့ရှိကြရာ ပြင်သစ်တပ်ဗိုလ် ရမ်ဗေး၏ အချစ်ဇာတ်လမ်းများမှာလည်း ပြင်သစ်တို့ ထုံးစံအတိုင်း “အညှီအဟောက်”နံ့ကလေးများ ရောစွက်လျက် ရှိသည်။ သို့တိုင်အောင် ရမ်ဗေး၏ဇာတ်ကြောင်းပြန်ပုံမှာ အညှီ အဟောက်ကိစ္စကို ပြောရလိုမှ ပြောရစေတော့သဘော မျိုးဖြင့် ပြောနည်းကားမျိုး မပါဘဲ လောက၌ အချစ်၏ နှစ်လိုဖွယ်ကောင်းခြင်းကို မိမိတစ်ဦးသာလျှင် ခံစားတွေ့ ကြုံဖူးသည်ဟု ရိုးရိုးသားသား ထင်မှတ် ယုံကြည်နေသူ တစ်ဦးအနေဖြင့် ပြောနေခြင်းမျိုး ဖြစ်သည်။ မိန်းမများအကြောင်းကို ပြောကြားရာ၌လည်း နားထောင်ချင့်စဖွယ် ဖြစ်အောင်ပြောပြရာ ပီယာသည် စိတ်ဝင်စားလျက်ရှိလေ သည်။

ပြင်သစ်လူမျိုးတို့ များစွာတန်ဖိုးထားသည့် “အချစ်” ဆိုသောအရာမှာ ပီယာက မိမိ၏ဇနီးဟယ်လင်မင်းသမီး ပေါ်တွင် ထားခဲ့ဖူးသော ယုတ်ညံ့နိမ့်ကျသည့် တပ်မက်ခြင်း မျိုးလည်း မဟုတ်။ နာတာရှာအပေါ်တွင် ထားခဲ့သော စိတ်ကူးယဉ်အချစ်မျိုးလည်း မဟုတ်ချေ။ (ရမ်ဗေးသည် ဤသို့သောအချစ်နှစ်မျိုးစလုံးကို

ရှုတ်ချသည်။ ရမ်ဖေးက ပထမအချစ်မျိုးကို "လူသောင်းကျန်းတို့ အချစ်" ဟုခေါ်၍ ဒုတိယအချစ်မျိုးကို "လူဖျင်းလူညံ့တို့၏အချစ်" ဟု ခေါ် သည်။) ပြင်သစ်လူမျိုးတို့ ကိုးကွယ်သော "အချစ်"မှာ ယောကျ်ားနှင့် မိန်းမတို့၏ ဆန်းပြားပွေလီသော ဆက်ဆံ ရေးနှင့် ၎င်းတို့နှစ်ဦး၏အသွင်မတူမှုများ၊ ကွဲပြားခြားနား ချက်များကို အဆင်ပြေအောင် ပေါင်းစပ်ပေးတတ်ခြင်းတို့မှ ထွက်ပေါ်လာသော စွဲလမ်း နှစ်သက်ဖွယ် ကောင်းသည့် ခံစားချက်တစ်မျိုး ဖြစ်၏။

ဤသို့ဖြင့် ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် စွဲမက် ဖွယ်ကောင်း၍ ကြေ့ရှင်း လှပသော အသက်သုံးဆယ့်ငါး နှစ်ရွယ် မှူးမတ်ကတော်တစ်ဦးနှင့် ချစ်ခဲ့ကြပုံ၊ တစ်ပြိုင် တည်းမှာပင် ထိုချောမောလှပသည့် မှူးမတ်ကတော်၏ နုနယ် ပျိုမျစ်သော ဆယ့်ခုနစ်နှစ်သမီးကလေးနှင့်ပါ ချစ်ခဲ့ ကြပုံတို့ကို အားရပါးရပြောပြ လျက် ရှိ၏။ ဤတွင် မိမိ ကြောင့် အမေနှင့်သမီး ပဋိပက္ခဖြစ်ကြပုံ၊ သဘောထားကြီး ပုံချင်း ပြိုင်ကြပုံ၊ နောက်ဆုံး၌ အမေက သမီးအတွက် နောက်ဆုတ်ပေးသွားကာ သမီးအား ချစ်သူနှင့် ပေးစား လိုက်ရပုံတို့ကို ပြောပြ လေရာ ထိုအဖြစ်အပျက်သည် ရှည်ဝေးသောအတိတ်မှ အဖြစ်အပျက်တစ်ခုသာ ဖြစ်သော် လည်း ရမ်ဖေးမှာ အသစ်ပြန်ဖြစ်လာသကဲ့သို့ စိတ်ထိခိုက် လျက်ရှိလေ သည်။ ထိုမှုမက မှူးမတ်ကတော်နှင့် ချစ်ကြိုက် နေစဉ် မှူးမတ်ကတော်၏ကြင် ယာတော် မှူးမတ်ကြီးမှာ ကိုယ့်ဇနီးကို ရည်းစားသည်လိုဆက်ဆံနေရပုံ၊ ရည်းစား ဖြစ်သူ မိမိက လင်အဖြစ်ဆက်ဆံနေရပုံ စသည်တို့နှင့်  တကွ ဂျာမနီပြည်တွင် အကွယ်အကာကို အွန်ဒါကွန့်ဟု ခေါ်ကြောင်း၊ ဆံပင်ရွှေရောင်တောက်၍ ချစ်စရာ ကောင်း သောမိန်းကလေးများ ပေါများကြောင်းများအပြင် ဂျာမနီ တွင် တွေ့ခဲ့ သည့် ဇာတ်ကွက်ဇာတ်လမ်း အဆန်းကလေး များကို ပြောဆိုလျက် ရှိလေသည်။

ပိုလန်ပြည်တွင် နောက်ဆုံးတွေ့ခဲ့သည့်ဇာတ်လမ်း ကလေးမှာ ရမ် ဖေး၏စိတ်ထဲ၌ အသစ်ကဲ့သို့ လန်းဆတ် လျက် ရှိသေးသည်။ ထိုအကြောင်းကို

ပြောပြသောအခါ ရမ်ဖေးမှာ ပို၍သွက်လာကာ မျက်နှာမှာလည်း ဝင်းထိန် လျက်ရှိ၏။ ပိုလန်တွင် တပ်စခန်းချစဉ် ပိုလန်မြို့စား တစ်ယောက်၏အသက်ကို ကယ်ခဲ့ပုံ (ပြင်သစ်တပ်ဗိုလ် ရမ်ဖေး၏ ဇာတ်လမ်းမှာ အားလုံးလောက်ပင် ယခုကဲ့သို့ ဝင်ကယ်သည့်အခန်းမျိုး မကြာခဏပါတတ်သည်။) ပိုလန် မြို့စားက သူ့ကို ကျေးဇူးတင်ကာ သူ့မိန်းမနှင့်ပင် လွတ်လွတ်လပ်လပ်နေခွင့်ပေးပုံ၊ သူကိုယ်တိုင်လည်း ပြင် သစ်တပ်ထဲသို့ ဝင်အမှုထမ်းပုံ၊ ပိုလန်မြို့စားကတော်က သူ့ကို ခိုးပြေးဖို့ ပူဆာပုံ၊ သို့ရာတွင် မိမိက သဘောထား ကြီးစွာဖြင့် ပိုလန်မြို့စားကတော်အား သူ့ယောကျ်ားလက် သို့ ပြန်အပ်ခဲ့ပုံ၊ "မြို့စားမင်းခင်ဗျား ကျွန်တော်ဟာ မြို့စား မင်းရဲ့ အသက်ကို ကယ်ခဲ့ဖူးပါပြီ။ ဒီတစ်ခါမှာလဲ မြို့စား မင်းရဲ့ ဂုဏ်သိက္ခာကို ကယ်လိုက်ပြန်ပါပြီ" ဟု ပြောခဲ့ပုံ စသည်တို့ကို ပြောပြ၏။ ပြင်သစ်တပ်ဗိုလ် ရမ်ဖေးသည် ထိုစကားလုံးများကို ရွတ်ပြပြီးနောက် မျက်လုံးကို သုတ် လိုက်ပြီး မိမိသည် မျက်ရည်လည်ရလောက်အောင် စိတ်ခါတ်ပျော့ညံ့ရပါမည်လောဟူသော သဘောမျိုးဖြင့် ခေါင်းကို ယမ်းလျက် ရှိ၏။

ပီယာသည် ညနေတိုင်လျှင် အရက်ကလေးတမြမြ ဖြင့် ဤသို့ ထိုင်၍ စကားစမြည် ပြောနေကျ ဖြစ်သည့် အတိုင်း ယခုလည်း ပြင်သစ်တပ်ဗိုလ် ရမ်ဖေး၏ဇာတ်လမ်း ' များကို စိတ်ပါဝင်စားစွာ နားထောင်လျက်ရှိကာ မိမိ၏ အဖြစ်အပျက်များသည်လည်း ခေါင်းထဲသို့ ရုတ်တရက် ပေါ်လာလေသည်။ ဤ အချစ်ဇာတ်လမ်းများကို နားထောင် နေရင်း နာတာရှာ့အပေါ်တွင် ထားရှိခဲ့သည့် အချစ်စိတ် သည်လည်း ဘွားခနဲ ပေါ်လာလေသည်။ ပီယာသည် နာတာရှော့ အပေါ်တွင်ထားခဲ့သည့်အချစ်နှင့် ရမ်ဖေး၏ဇာတ် လမ်းများကို နှိုင်းယှဉ်စဉ်းစားမိသည်။ ရမ်ဖေး၏တာဝန်  နှင့် အချစ်တို့ လွန်ဆွဲကြသည့်ဇာတ်လမ်းကို နားထောင် ရင်း ပီယာသည် မိမိတစ်ဖက်သတ်ချစ်နေခဲ့ရသော နာ ( တာရှာနှင့် စူခါရက်မျှော်စင်ကြီးအောက်တွင် နောက်ဆုံး တွေ့မြင်ခဲ့ရပုံတို့ကို မြင်ယောင်လာ

လေသည်။ နာတာရှာ နှင့် တွေ့ခဲ့စဉ်က ဤမျှလောက် စိတ်လှုပ်ရှားခြင်း မရှိခဲ့သော်လည်း(ထိုစဉ်က နာတာရှာကို မိမိချစ်နေသည်ဟုပင် သတိမရခဲ့ပါ။) ယခုမူ ထိုစဉ်က တွေ့ဆုံခဲ့ရပုံမှာ ရင်နှင့် စရာကောင်းလှသည်ဟု ပီယာ ထင်မိသည်။ )

"အစ်ကို၊ အစ်ကို လိုက်ခဲ့လေ။ အစ်ကို့ကို နာတာ ရှာမှတ်မိပါတယ် အစ်ကိုရဲ့" ဟူသော နာတာရှာ၏စကား များကို ကြားယောင်လာသည်။ နာတာရှာ၏မျက်နှာလေး ကိုလည်းကောင်း၊ အပြုံးကိုလည်းကောင်း၊ ခေါင်းစည်းပဝါကလေးကိုလည်းကောင်း၊ ပဝါအောက်မှ ဖြာကျနေ သောဆံယဉ်စကလေးများကိုလည်းကောင်း မြင်ယောင် လာကာ ဆွေးသလိုလို ဖြစ်လာသည်။

ပြင်သစ်တပ်ဗိုလ် ရမ်ဗေးသည် ပိုလန်မြို့စား ကတော်နှင့် ဖြစ်ခဲ့သည့် ဇာတ်လမ်းကို ပြောပြပြီးနောက် မိမိကဲ့သို့ အချစ်အတွက် စွန့်လွှတ်ခြင်းမျိုး ရှိဖူးသလော။ တရားဝင်ကာမပိုင်လင်ကြီးကိုငဲ့၍ ချစ်သူကို စွန့်ပစ်လိုက် ခြင်းမျိုး တွေ့ဖူးပါသလောဟု ပီယာကို မေး၏။

ဤသို့ မေးလိုက်သည်တွင် ပီယာသည် ခေါင်းကို မော့လိုက်ပြီး မိမိ၏အယူအဆကိုလည်း ပြောမှ ဖြစ်တော့ မည်ဟုယူဆကာ မိန်းမတစ်ယောက်ကို ချစ်သည် ဆိုရာ တွင် မိမိမှာ ပြင်သစ်တပ်ဗိုလ်နှင့် အယူအဆမတူကြောင်း၊ မိမိတစ်သက်တာတွင် မိန်းမတစ်ယောက်တည်းကိုသာ ချစ်ခဲ့ဖူး၍ ယခုတိုင်လည်း ချစ်လျက်ရှိကြောင်း၊ သို့သော် ထိုမိန်းမကို မိမိပိုင်ဆိုင်ဖို့ မရှိတော့ကြောင်းဖြင့် ပြော၏။

"ဘာ့ကြောင့်" ။

ပီယာက မိမိသည် ထိုမိန်းမကို ငယ်ငယ်ကတည်း က ချစ်ခဲ့ကြောင်း၊ သို့ရာတွင် မိန်းမမှာ မိမိထက်အသက် ငယ်နေသည့်အတွက် မစဉ်းစားရဲလောက်အောင် ဖြစ်လျက် ရှိကြောင်း၊ ထို့ပြင် မိမိမှာ တရားမဝင်သော ကိုင်ဦတမသား တစ်ဦးဖြစ်၍ မျက်နှာငယ်ခဲ့ဖြစ်သည်အလျောက် မလှမ်းရဲ ကြောင်း၊ နောင် မိမိမှာ

တရားဝင်သား ဖြစ်လာ၍ အမွေရ လာသည့်အခါတွင်လည်း ထိုမိန်းမကို လွန်စွာ ချစ်မြတ်နိုး လှသည့်အတွက် မတွေးရဲ မတွေးရက်လောက်အောင်ဖြစ် ကျတယ်”

၎င်းတို့အနီးသို့ အခြားသူများလည်း ရောက်လာ ကြ၏။

“မီးတောက်က တဖြည်းဖြည်း ကြီးလာပြီဗျို့။ ဟုတ်တယ်ဒါ့။ မော်စကိုမှာ လောင်နေတာပဲ။ ရှုရှော့စကီ ရပ်ကွက်နဲ့ ရိုဂိုစကီရပ်ကွက်ဆီလောက်မှာ ဖြစ်လိမ့်မယ်”

မည်သူမျှ စကားမပြောကြဘဲ ကောင်းကင်တွင် တဖြည်းဖြည်းမြင့်တက်လာကာ ဘေးသို့ တဖြည်းဖြည်း ပြန့်ထွက်လာသည့် မီးရောင်များကို အတန်ကြာမျှ တိတ် ဆိတ်စွာ ငေးကြည့်နေကြသည်။

မြို့စားကြီးရော့စတော့ဗ်၏ ကျွန်ယုံကြဒင်နီယယ် သည် လူစုနားသို့ ရောက်လာကာ အစေတော်မီရှကာ ဘက်သို့ လှည့်၍

”ဟေ့ကောင်၊ ကိုယ့်အလုပ် ကိုယ် သွားလုပ်ပါ လား။ ဒီနားမှာ ဘာလာလုပ်နေတာလဲ။ တော်တော်ကြာ သခင်ကြီးဘုရား ခေါ်လို့ အနားမှာ တစ်ယောက်မှ မရှိရင် အထောင်းခံရဦးမယ်။ သွား၊ ညဝတ်စုံတွေ ဘာတွေထုတ် ပေးချေ”

“သွားမှာပါဗျ၊ အပြင် ခဏထွက်ပြီး ရေသောက် တာပါ” မီရှကာက ဖြေ၏။

“ အဘိုးကြီး ဒင်နီယယ်။ ခုမြင်ရတဲ့ မီးတောက် ဟာ မော်စကိုလောက်ဆီက မဟုတ်လားဗျ” အစေတော် တစ်ဦးက မေးလိုက်၏။

ဒင်နီယယ်က မည်သို့မျှ မဖြေ။ ဤသို့ဖြင့် ၎င်းတို့ သည် အတန်ကြာတိတ်ဆိတ် နေကြသည်။ ရဲရဲနီသော မီးရောင်သည် ပို၍ ကြီးလာခဲ့လေပြီ။ ပို၍ မြင့်မားလာခဲ့လေပြီ။ ပို၍ ဘေးသို့ ပြန့်လာခဲ့လေပြီ။

“ဘုရား၊ ဘုရား၊ ရာသီကလဲပြင်း၊ လေကလဲထန် ဆိုတော့ ဒုက္ခပဲ”

“အလို ကြည့်စမ်းဒါ့။ ဟိုမီးတောက်တွေရဲ့ အထက် ကောင်းကင်မှာ မည်း မည်းမည်းမည်းနဲ့ လှုပ်နေ တာတွေက ကျီးကန်းတွေမဟုတ်လား၊ ကြည့်စမ်း”

“အေးဗျာ၊ မီးသတ်တဲ့လူတော့ ရှိကောင်းပါရဲ့”

“ဒီကာလကြီးထဲမှာ ဘယ်သူကလာပြီး မီးသတ် နေဦးမလဲဗျ” စကား တစ်လုံးမှ မပြောဘဲ တိတ်ဆိတ်လျက် ရှိသည့် ဒင်နီယံက ဆို၏။

”ဟုတ်တယ်ဗျ။ မော်စကိုမှာ လောင်နေပြီ။ မော် စကိုမြို့ကြီး မီးလောင်နေပြီ အဟီးဟီး”ဒင်နီယ်၏အသံ သည် တိမ်သွားကာ ရှိုက်သံထွက်ပေါ်လာသည်။

သက်ပြင်းချသံ၊ ဆုတောင်းသံ၊ ဒင်နီယ်၏ရှိုက်သံ တို့သာ ကြီးစိုးလျက် ရှိလေ သည်။

# အခန်း ၃၁

ဒင်နီယ်သည် တဲဆီသို့ ပြန်လာကာ မော်စကိုမြို့ကြီး မီးလောင်နေပြီ ဖြစ်ကြောင်း မြို့စားကြီးရော့စတော့ဗ်ကို ပြောပြ၏။ မြို့စားကြီး ရော့စတော့ဗ်သည် ညဝတ်အင်္ကျီ ရှည်ကြီးကို သုတ်သီးသုတ်ပျားဝတ်ကာ တဲပြင်သို့ လိုက် လာခဲ့သည်။ အိပ်ရာဝင်အဝတ်အစား မလဲရသေးသည့် ဆွန်ယာနှင့် မဒမ်ရော့တို့လည်း မြို့စားကြီးနှင့် အတူ တ် ပြင်သို့ ထွက်လာခဲ့ကြ၏။ တဲထဲတွင် မြို့စားကတော် ကြီးနှင့် နာတာရှာတို့သာ ကျန်ရစ်ခဲ့လေသည်။ ယခုအချိန် တွင် ပီတာမှာ မိဘများနှင့် ပါမလာတော့ချေ။ ထရွိုင်ဇာ သို့ ချီတက်လျက်ရှိသော မိမိတပ်ရင်းနှင့်အတူ လိုက်ပါသွား ခဲ့လေပြီ။

မော်စကိုမြို့ကို မီးလောင်နေပြီဟု သိရသောအခါ တွင် မြို့စားကတော်ကြီးမှာ ကြှုကြှုပါအောင် ငိုလျက် ရှိ၏။ နာတာရှာကား ဖြူရော်သောမျက်နှာ၊ ကြောင်သောမျက်လုံးများဖြင့် ဆင်းတုတော်များအောက်ရှိ ခုံတန်း တွင် ထိုင်လျက်ရှိသည်။ နာတာရှာသည် စခန်းချကတည်း က ဤနေရာတွင်ထိုင်လျက်ရှိသည်။ ဖခင်မြို့စားကြီး ရော့စတော့ဗ်၏စကားများကိုလည်း ကြားဟန် မတူချေ။ တ်သုံးလုံးကျော်မှ တပ်ရေး၏ တအင်အင်ညည်းသံကိုသာ နား စွင့်လျက်ရှိ၏။

”နည်းတဲ့မီးတောက်ကြီး မဟုတ်ပါဘူးကွယ်” ဆွန်ယာသည် တစ်ကိုယ်လုံး အေးစက်လျက် ထိတ်လန့် သောမျက်နှာထားဖြင့် တဲတွင်းသို့ ပြန်ဝင်လာ၏။ “ဆွန်ဟုအထင်တော့ မော်စကိုမြို့လုံး ကျွတ်မယ် ထင် တာပဲ။ မီးတောက်က တော်တော်ကြီးတယ်။ နာတာရှာ လာကြည့်စမ်း ကြည့်စမ်း။ ပြတင်းပေါက်ကနေ ကြည့်ရင် မြင်ရတယ်”

ဆွန်ယာက နာတာရှာ အာရုံပြောင်းသွားစေလို ဝင်  မမနေ မရေး သဖြင့် လှမ်းခေါ်လိုက်သည်။

သို့ရာတွင် နာတာရှာသည် ဆွန်ယာ၏စကားများ ကို နားလည်ခြင်းမရှိ သကဲ့သို့ မျက်လုံးရွဲကြီးများဖြင့် တစ်ချက်မျှသာလှမ်းကြည့်လိုက်ပြီးနောက် တဲ ထောင့်ရှိ မီးဖိုဆီသို့သာ စိုက်ကြည့်နေသည်။ ဆွန်ယာသည် မည် သည့်အကြောင်း ကြောင့် မသိ၊ မင်းသားကလေး အင်ဒရေ ဒဏ်ရာရကြောင်းနှင့်တကွ မိမိတို့လှည်း သိုက်နှင့် အတူ ပါလာကြောင်းကို နံနက်ခင်းက နာတာရှာကို လွှတ်ခနဲ ပြောလိုက် မိလေရာ ထိုအချိန်မှစ၍ နာတာရှာမှာ မှင်တက်မိ သူကဲ့သို့ ကြောင်ကြောင်ဖြစ် လျက် ရှိလေသည်။ မြို့စား ကတော်ကြီးက ဆွန်ယာကိုကြိမ်းမောင်းပုံမှာကား ဆို ဖွယ် မရှိတော့ချေ။ မြို့စားကတော်ကြီးသည် ဤမျှ လောက် တစ်ခါမျှ စိတ်ဆိုး ခြင်း ရှိခဲ့ဖူးဟန် မတူချေ။ ဆွန်ယာကား ကျိတ်၍ငိုကာ မိမိအမှားကို ဝန်ချ တောင်းပန် ပြီးနောက် မိမိအပြစ်ကို ကျေစိမ့်သောငှာ နာတာရှာကို ဂရုတစိုက် စောင့်ကြည့်လျက် ရှိလေသည်။

“ကြည့်စမ်းပါဦး နာတာရှာရယ်။ လောင်လိုက်တဲ့ မီးတွေ”

“ဘယ်မှာ လောင်နေတာလဲ” နာတာရှာက မေး ၏။ “သော် မော်စကိုလား”

နာတာရှာသည် မိမိအား စိတ်အားထက်သန်စွာ ပြောဆိုလျက်ရှိသည့် ဆွန် ယာ စိတ်ကျေနပ်သွားစေရန် ပြတင်းပေါက်ဘက်သို့ မျက်နှာမူထားလိုက်သည်။ သို့ ရာ တွင် နာတာရှာ၏မျက်လုံးများသည် မည်သည့်အရာကိုမျှ မြင်ဟန်မတူချေ။ ထို့နောက်၌ကား နာတာရှာသည် နဂို အတိုင်း မလှုပ်မယှက် ထိုင်နေပြန်သည်။

“မြင်တယ် မဟုတ်လား နာတာရှာ”

"အင်း၊ မြင်ပါတယ်" နာတာရှာက စကားရှည် နေမည်စိုးသဖြင့် ခပ်ပြတ်ပြတ်ပြောလိုက်၏။

ယခုအချိန်၌ကား နာတာရှာသည် မော်စကိုမြို့ကို သော်လည်းကောင်း၊ မော်စကိုမြို့ကြီး မီးလောင်နေခြင်း ကိုသော်လည်းကောင်း စိတ်ဝင်စားဟန် မရှိတော့ချေ။ ဤအချက်ကို မြို့စားကတော်ကြီးနှင့် ဆွန်ယာတို့ကလည်း ဒါပေသည်။

မြို့စားကြီး ရော့စတော့ဗ်သည် တဲတွင်းသို့ ပြန်ဝင် လာကာ အိပ်ရာထဲ ဝင်လှဲနေ၏။ မြို့စားကတော်ကြီးသည် မယ်" ။

သမီးထွေး နာတာဂူအနီးသို့ ရောက်လာကာ နာတာရှာ နာမကျန်းဖြစ်နေစဉ်ကြင်နာမှုပြသကဲ့သို့ လက်ခုံကို နမ်းခြင်း၊ ဆံပင်ကို နမ်းခြင်း၊ နဖူးကို နမ်းခြင်းစသည်တို့ ပြုလုပ်လျက် ရှိသည်။

"သမီးထွေး တစ်ကိုယ်လုံး အေးစက်လို့ပါကလား ဟင်။ ပြီးတော့လဲ ခိုက်ခိုက်တုန်လို့။ လာ လာ သမီး ထွေး အိပ်ရာထဲ လှဲနေလိုက်"

"ဟုတ်ကဲ့ မေဖျား။ နာတာရှာ အခုပဲ လာခဲ့ပေါ့ မင်းသားကလေးအင်ဒရေ အကြီးအကျယ် ဒဏ်ရာ ရကြောင်း၊ မိမိတို့နှင့် အတူ လိုက်ပါလာကြောင်း စသည်တို့ကို နံနက်ခင်းက သိလိုက်ရသည့်အချိန်မှစ၍ "သူ ဘယ်ကိုများ သွားမလို့ပါလိမ့်။ ဘယ်ပုံ ဘယ်နည်းများ ဒဏ်ရာရလာတာပါလိမ့်။ ဒဏ်ရာက တော်တော်ကြီးသလား။ နာတာရှာ သွားတွေ့လို့ ကောင်းပါ့မလား" စသည့် မေးခွန်းပေါင်းများစွာတို့သည် နာတာရှာ၏ခေါင်း ကို လာ၍ တီးခေါက်ကြ၏။ သို့ရာတွင် မင်းသားကလေး အင်ဒရေမှာ အသက်ကို မစိုးရိမ်ရသော်လည်း ဒဏ်ရာ ပြင်းထန်လှကြောင်း၊ ထို့ကြောင့် သွားတွေ့၍မဖြစ်ကြောင်း စသည်တို့ ကြားရပြီးသည့်နောက်၌ကား နာတာရှာသည် ၎င်းတို့ကို နောက်ထပ်လည်း မေးခွန်းထုတ်ခြင်း မပြုတော့ ချေ။ စကားလည်း မပြောတော့ချေ။ မေးလျှင်လည်း ဤ အဖြေကို

သာ ကြားရမည်မဟုတ်ပါလော။ ဤသို့ဖြင့် နာတာရှာသည် မျက်လုံး အကြောင်သားနှင့် တစ်လမ်းလုံး ရထားထောင်ထဲတွင် မလှုပ်မယှက်လိုက်ပါလာခဲ့လေရာ မိခင် မြို့စားကတော်ကြီးမှာလည်း နာတာရှာ၏မျက်လုံး တွင် ဖော်ပြလျက်ရှိသော အရိပ်အယောင်များကို သတိထား မိသဖြင့် သမီးအတွက် သောကမအေးနိုင်ဘဲဖြစ်လျက်ရှိ၏။ ယခု စခန်းချသည့်နေရာ ရောက်သည့်အခါ၌လည်း နာတာရှာသည် ရထားပေါ်မှာကဲ့သို့ပင် မလှုပ်မယှက် ထိုင် နေပြန်သည်။ ရောက်ကတည်းက ထိုင်နေသည်မှာ ယခု တိုင် တုတ်တုတ်မျှ မလှုပ်သေးချေ။ နာတာရှာ၏အမူ အရာမှာ တစ်စုံတစ်ရာကို . ကျိတ်၍ ကြံစည်နေဟန်၊ လုပ်သင့် မလုပ်သင့် စဉ်းစားနေဟန်ရှိ၏။ တစ်ချီ တစ်ချီ တွင်လည်း မည်သို့ပင်ဖြစ်စေ လုပ်တော့မည်ဟု ဆုံးဖြတ် ပြီးဟန် လက္ခဏာကို ဖော်ပြလျက်ရှိ၏။ မြို့စားကတော် ကြီးသည် ဤအချက်ကို ရိပ်မိသော်လည်း မည်သည့် အကြံမျိုးဖြစ်သည်ကို တွေး၍မရဘဲ ဖြစ်နေသည်။ ဤသို့ ဖြင့် သမီးထွေးအတွက် စိုးရိမ်ကြောင့်ကြကာ သောက မအေးနိုင်ဘဲဖြစ်လျက် ရှိလေသည်။

"သမီးထွေး နာတာရှာ။ အဝတ်အစားလဲပြီး မေဖျား ရဲ့ အိပ်ရာပေါ်မှာ လှဲနေပါလား ဟင်"

မြို့စားကတော်ကြီးအတွက် ခုတင်တစ်လုံး ခင်း၍ အိပ်ရာပြင်ထား၏။ ကျန်အိမ်သားများမှာ ကြမ်းပြင်တွင် ကောက်ရိုးခင်း၍ အိပ်ရလေသည်။

"နေပါစေ မေဖျား။ နာတာရှာ ကြမ်းပေါ်မှာပဲ အိပ်ပါ့မယ်" ။

နာတာရှာသည် မိမိအား အနှောင့်အယှက်ပေးကြ လွန်းသဖြင့် စိတ်တိုလာကာ ပြတင်းပေါက်သို့ ထလာပြီး တံခါးကို ဖွင့်လိုက်၏။ ပြတင်းပေါက်ကို ဖွင့်လိုက်သော အခါ၌ တပ်ရေး၏ညည်းသံကို ပို၍ သဲကွဲစွာ ကြားနေရ သည်။ နာတာရှာသည် အပြင်ဘက်ရှိ သိပ်သည်းစိုစွတ် သော ညလေထုထဲသို့ ခေါင်းထုတ်

လိုက်၏။ ငိုရှိုက်လျက် ရှိခြင်းကြောင့် နာတာရှာ၏သေးသွယ်သောလည်တိုင်သည် လှုပ်လျက်ရှိကာ ကိုယ်ကလေးသည် တသိမ့်သိမ့် ယမ်းခါ လျက် ရှိသည်ကို မြို့စား ကတော်ကြီး မြင်ရ၏။ တဲသုံးလုံး ကျော်မှ အစဉ်မပြတ်ထွက်ပေါ်လျက်ရှိသော ညည်းသံ သည် မင်းသားကလေး အင်ဒရေ၏ညည်းသံ မဟုတ်မှန်း ကို နာတာရှာ သိ၏။ မင်းသားကလေးအင်ဒရေသည် ထိုတ်ထဲတွင် မဟုတ်ဘဲ မိမိတို့၏အစွန်ဆုံး အခန်းတွင် ရှိခြင်းကိုလည်း နာတာရှာ သိ၏။ သို့ရာတွင် အစဉ်မပြတ် ထွက်ပေါ် လျက်ရှိ၍ ကြောက်စရာကောင်းသော ထိုညည်း သံကို ကြားရသည့်အခါတွင်ကား နာတာရှာသည် မငိုဘဲ မနေနိုင်တော့ချေ။ မြို့စားကတော်ကြီးနှင့် ဆွန်ယာသည် တစ်ယောက်မျက်နှာကို တစ်ယောက် လှမ်းကြည့်လိုက် ကြသည်။

“သမီးထွေး။ လာပါ သမီးထွေးရယ်။ လှဲနေ လိုက်ပါနော်။ ဟုတ်လား” မြို့စားကတော်ကြီးသည် နာ တာရှာ၏ပခုံးကို အသာအယာဖက်လိုက်၏။ “လာ အိပ် လှည့်နော် သမီးထွေး”

“ဟုတ်ကဲ့ မေဖျား။ နာတာရှာ ခုပဲ အိပ်ပါ့မယ်” နာတာရှာသည် ၎င်းတို့ နှောင့်ယှက်ကြဦးမည်ကို စိုးရိမ် သည့်အတွက် အဝတ်များကို ခပ်မြန်မြန် ချွတ် နေသည်။

ဝတ်စုံကို ချွတ်၍ ညဝတ်အကျႌကို ဝတ်ဆင်ပြီး နောက် နာတာရှာသည် ကြမ်းပြင်ပေါ်ရှိ ၎င်း၏အိပ်ရာ ထက်တွင် ကျုံ့ကျုံ့ထိုင်ရင်း ဆံပင်ကို ရှေ့သို့ချကာ ပြန်၍ ကျစ်နေသည်။ နာတာရှာ၏ သေးသွယ်ရှည်လျား ၍ ကျင့်သားရပြီးသော လက်ချောင်းကလေးများသည် ဆံပင်ကို ကျစ်လိုက် ဖြေလိုက်၊ ကျစ်လိုက် ဖြေ လိုက်နှင့် လှုပ်ရှားနေကြသည်။ သူ့ဝသီအတိုင်း ဆံပင်ကျစ်ရင်းလည်း ခေါင်းကို ဘယ်ညာယိမ်းငဲ့လျက် ရှိသည်။ သို့ရာတွင် ပြူးကျယ်ကြောင်လျက်ရှိသော မျက်လုံးကြီးများကား . လှုပ်ရှားခြင်းမရှိဘဲ ကြည့်မိကြည့်ရာကို ကြည့်နေကြ

သည်။ ဤသို့ ဆံပင်ကို ပြုပြင်ပြီးသည့်အခါတွင် နာတာရှာသည် တံခါးမအနီး ကောက်ရိုးပေါ်တွင် ဖြန့်ခင်းထားသော အိပ်ရာခင်းပေါ်သို့ အသာလှဲချလိုက်လေသည်။

"နာတာရှာ အလယ်က လာအိပ်ပါလားကွယ်" ( ဆွန်ယာက ဆို၏။

"ဟင့်အင်း၊ ဒီမှာပဲ အိပ်တော့မယ်။ အိပ်မှာ အိပ် စမ်းပါ ဆွန်ယာရယ်" နာတာရှာသည် စိတ်မရှည်သလို ပြောလိုက်ပြီးနောက် မျက်နှာကို ခေါင်းအုံးထဲတွင် မြှုပ် ထားလိုက်၏။

မြို့စားကတော်ကြီးနှင့် တကွ မဒမ်ရှော့နှင့် ဆွန်ယာ တို့သည် ခပ်သုတ်သုတ် အဝတ်အစားလဲကာ အိပ်ရာသို့ ဝင်ကြ၏။ တဲကလေးတစ်ခုလုံး၌ အလင်းရောင်ဟူ၍ ဆင်းတုတော်ရှေ့တွင် ပူဇော်ထွန်းညှိထားသော မီးအိမ်ကလေးသာ ကျန်ရစ်ခဲ့၏။ အိမ်ရှေ့တလင်းပြင်၌ကား တစ်မိုင်ခွဲ ခန့်ဝေးသည့် မီတစ်ရှီမြောက်ရွာ၌ လောင်ကျွမ်း လျက်ရှိသည့် မီးတောက်များမှ မီးရောင်တို့ဖြင့် ရောင်ပြန် ဟပ်၍ လင်းနေ၏။ လမ်းတစ်ဖက်ရှိ ထမင်းဆိုင်မှ ဗိုလ်ချုပ် မာမိုနော့၏ မြင်းတပ်သားများအသံသည် ဆူညံ လျက် ရှိ၏။ သို့သော်လည်း တပ်ရေး၏ညည်းသံကိုကား ကြားနေရလေသည်။

နာတာရှာသည် တဲအတွင်းနှင့် အပြင်မှ အသံဗလံ များကို အချိန်အတော်ကြာမျှ နားစွင့်နေသည်။ မိခင်မြို့စား ကတော်ကြီး၏ ဘုရားဝတ်ပြုသံ၊ သက်ပြင်းချသံ၊ လူးလှိမ့် သံ၊ မဒမ်ရှော၏ လေချွန်သံကဲ့သို့ တရှူးရှူးဟောက်သံ၊ ဆွန်ယာ၏ အသက်မျှင်းမျှင်းရှူသံတို့ကို ကြားရ၏။

ခဏကြာလျှင် မြို့စားကတော်ကြီးက နာတာရှာကို လှမ်း ခေါ်သည်။ နာတာရှာက ပြန်မထူးချေ။

“အိပ်ပျော်သွားပြီထင်တယ် မေဖျား” ဆွန်ယာက ခပ်တိုးတိုးပြောလိုက်၏။

“ ခဏကြာလျှင် မြို့စားကတော်ကြီးထံမှ စကားသံ ထွက်ပေါ်လာပြန်သည်။ ဤတစ်ကြိမ်တွင်မူ ဆွန်ယာထံမှ ပြန်ပြောသံ မကြားရတော့ချေ။

ထို့နောက်၌ကား မိခင်မြို့စားကတော်ကြီး၏ မှန် မှန်ကြီး အသက်ရှူသံကို နာတာရှာကြားရ၏။ စောင် အောက်မှထွက်နေသော နာတာရှာ၏ခြေထောက်ကလေး များမှာ အေးစက်နေလေပြီ။ သို့ရာတွင် နာတာရှာကား တုတ်တုတ်မျှ မလှုပ်ချေ။

ကမ္ဘာလောကကြီးအပေါ်တွင် အောင်ပွဲခံသည့် အလား ပုရစ်တစ်ကောင်သည် နံရံကြားမှ တကျီကျီ အော် လျက်ရှိ၏။ အဝေးမှ ကြက်တစ်ကောင် လေးတွဲစွာတွန် လိုက်ရာ အနီးရှိကြက်တစ်ကောင်ကလည်း ပြန်တွန်လိုက် ၏။ ထမင်းဆိုင်မှ အသံဗလံများမှာ ဆိတ်၍သွားလေပြီ။ တပ်ရေး၏ညည်းသံကိုကား ကြားရဆဲပင် ဖြစ်လေသည်။ နာတာရှာ ထထိုင်လိုက်၏။

“ဆွန်ယာ အိပ်ပျော်ပလား။ မေဖျားကော” နာ တာရှာက အသံပြုလိုက်သည်။

မည်သူ့ထံကမျှ အသံမကြားရချေ။ နာတာရှာ သည် အသာထကာ လက်ယှက်ဆုတောင်းပြီးနောက် သေးသွယ်နူးညံ့သောခြေထောက်တွင် ဖိနပ်ကိုမျှ မစီးနိုင် တော့ဘဲ အေးစက်၍ညစ်ပတ်ပေရေလျက်ရှိသော ကြမ်းပြင် ပေါ်တွင် ခြေဖျားထောက်၍ ထလာခဲ့သည်။ တစ်ချက် တစ်ချက်တွင် ကြမ်းခင်းသည် ကျွီခနဲ မြည်သွား၏။ နာ တာရာသည် ခြေလှမ်းကို သတိကြီးစွာဖြင့်လှမ်း၍ တံခါး အနီးသို့ ကြောင်မကလေးတစ်ကောင်သဖွယ် ပေါ့ပါး ဖျတ်လတ်စွာ ပြေးလာခဲ့ပြီး အေးစက်လျက်ရှိသော တံခါး လက်ကိုင်ကို ကိုင်ထားလိုက်သည်။

လေးလံသော အရာဝတ္ထုကြီးတစ်ခုသည် အခန်း နံရံလေးဖက်ကြား၌ အချက်ကျကျ ခုန်လျက် ရှိသည်ဟု နာတာရှာ ထင်မိ၏။ အမှန်၌ကား ထိုအရာဝတ္ထုကြီးမှာ ကြောက်လန့်ခြင်း၊ ထက်သန်ခြင်းတို့ကြောင့် တဒိတ်ဒိတ် ခုန်နေသော သူ့နှလုံးသားများသာ ဖြစ်လေသည်။

နာတာရှာသည် တံခါးကိုဖွင့်ကာ လှေကားထစ် ကိုနင်းခဲ့ပြီး စိုစွတ်အေးမြလျက်ရှိသော စကြံအကူး မြေကြီး ပေါ်သို့ ဆင်းလာခဲ့သည်။ အပြင်ဘက်မှ အအေးဓာတ် ကြောင့် နာတာရှာ၏စိတ်သည် လန်းဆတ်လာသည်ဟု ထင်ရ၏။ နာတာရှာသည် မြေကြီးပေါ်တွင် အိပ်ပျော်နေသူ တစ်ဦးကို ခြေထောက်ဖြင့် ဝင်ခတ်မိသည်။ ထို့နောက် ကန့်လန့်ကြီးအိပ်ပျော်နေသော ထိုလူကိုကျော်ကာ မင်းသားကလေးအင်ဒရေရှိသည့် အစွန်ဆုံးတံခါးကို တွန်းဖွင့်လိုက် သည်။ တဲခန်းထဲ၌ကား မှောင်မည်းလျက်ရှိသည်။ အခန်း ထောင့်တစ်နေရာရှိ ခုံရှည် တစ်လုံးပေါ်တွင် ပျားဖယောင်း တိုင်တစ်တိုင်သည် ခပ်မှိန်မှိန်လင်းလျက် ရှိသည်။ ထိုအနီးရှိ ခုတင်တစ်လုံးပေါ်တွင် လဲလျောင်းနေသောသဏ္ဍာန်တစ်ခု ကို မြင်ရ၏။

( မင်းသားကလေး အင်ဒရေ ဒဏ်ရာရ၍ မိမိတို့ လှည်းသိုက်နှင့် အတူလိုက်ပါလာကြောင်းကို သိရသည့် နံနက်ပိုင်းကတည်းက နာတာရှာသည် မင်းသားကလေး အင်ဒရေကို သွားရောက်တွေ့ဆုံရန် ဆုံးဖြတ်ပြီး ဖြစ်လေ သည်။ မည်သည့်အတွက်ကြောင့် သွားရောက်တွေ့ဆုံ သင့်သည်ဆိုသည့်အချက်ကို နာတာရှာ မသိသော်လည်း မိမိနှင့် မင်းသားကလေးအင်ဒရေတို့ ယခုအချိန်တွင် ယခုလို ပြန်လည်တွေ့ဆုံရပုံမျိုးသည် ရင်နင့်ဖွယ်ကောင်း သည်ကိုမူ နာတာရှာ သိပါသည်။ သို့ရာတွင် ဤသို့ သိ သည့်တိုင်အောင် သွားတွေ့မှ ဖြစ်မည်ဟု နာတာရှာ ထင် မှတ်လျက် ရှိပါသည်။

ထိုနေ့ တစ်နေ့လုံး နာတာရှာသည် မင်းသား ကလေးအင်ဒေရေနှင့် တွေ့ ရတော့မည့်အချိန်ကိုသာ စောင့် လျက် ရှိ၏။ ယခု ထိုအချိန်သည် ဆိုက်ရောက်လာခဲ့ပြီ ဖြစ်လေရာ နာတာရှာ၏စိတ်၌ တွေ့ရမည့်မြင်ကွင်းကိုတွေး ၍ တုန်လှုပ်လျက်ရှိလေသည်။ မင်းသားကလေးအင်ဒရေ သည် လူစဉ်မမီသည့်အဖြစ်သို့ ရောက်ရရှာလေပြီလော။ သူ့ခန္ဓာကိုယ်တွင် မည်သည့်အစိတ်အပိုင်းတို့ ပျက်စီး၍ မည်သည့်အစိတ်အပိုင်းတို့ ကျန်ရစ်ခဲ့ပေသနည်း။ တပ်ရေး ကဲ့သို့ တအင်းအင်း တအယ်အယ် သနားစဖွယ်ညည်းညူ၍ နေရှာမည်လော။ သူလည်း ထို့အတူ ခံစားရရှာပေလိမ့်မည်ဟု နာတာရှာမိ တွေးမိသည်။ နာတာရှာ၏ စိတ် တွင် တပ်ရေး၏ညည်းသံသည် မင်းသားကလေး အင်ဒရေ ၏ကိုယ်စား ညဉ်းသံဟု အောက်မေ့မိ၏။ အခန်းထောင့် ခုတင်ပေါ်တွင် လဲလျောင်းနေသော ခပ်ဝါးဝါး သဏ္ဌာန်ကို မြင်ရသည်။ ထိုသဏ္ဌာန်ကား ထောင်၍နေသော ဒူးနှစ် လုံးဖြစ်လေရာ နာတာရှာသည် ထိုဒူးနှစ်လုံးကို ပခုံးဟု ထင်မှတ်မိရာက ထိုသဏ္ဌာန်ကို ကြောက်စရာ သဏ္ဌာန်ကြီးတစ်ခုဟု ထင်မှတ်လိုက်မိလျက် ကြက်သီး တွေ ဖြန်းခနဲ ထလာပြီးနောက် ရှေ့သို့ မတိုးရဲဘဲ ရပ်နေ လိုက်မိသည်။ သို့ရာတွင် နာတာရှာ၏စိတ်သည် နာတာ ရှာအား ရှေ့သို့ တွန်းပို့လျက် ရှိသည်။ ထို့ကြောင့် နာတာ ရှာသည် သတိကြီးစွာဖြင့် တစ်လှမ်းချင်း လှမ်းလာခဲ့ရာ မကြာမီ ဝန်စည်စလယ်များ စုပုံထားသောအခန်းငယ် တစ်ခုထဲသို့ ရောက်နေကြောင်း တွေ့ရ၏။ လူတစ်ယောက် သည် ဆင်းတုတော်များအောက်ရှိ သစ်သားခုံတန်းတစ်ခု ပေါ်သို့ အိပ်လျက်ရှိ၏။ ထိုသူမှာ တပ်ဗိုလ်တီမိုခင် ဖြစ် ၏။ အခြားနှစ်ယောက်မှာ ကြမ်းပြင်ပေါ်တွင် အိပ်နေကြ သည်။ ၎င်းတို့ကား ဆရာဝန်နှင့် မင်းသားကလေးအင်ဒရေ ၏အပါးတော်မြဲတို့ ဖြစ်လေသည်။

အပါးတော်မြဲသည် ထထိုင်၍ တစ်စုံတစ်ရာကို ပြောလိုက်၏။ ခြေထောက်ကဒဏ်ရာ ကိုက်ခဲ လွန်းသော ကြောင့် အိပ်မပျော်သေးသည့် တပ်ဗိုလ်တီမို

ခင်သည်လည်း ဝတ်ရုံဖြူကြီးဝတ်ထားသော မိန်းမပျိုတစ်ယောက်၏ ခပ် ဝါးဝါး သဏ္ဌာန်ကို မျက်လုံးပြူး မျက်ဆန်ပြူးဖြင့် ကြည့် နေသည်။

"ဘယ်သူလဲ၊ ဘာလဲ၊ ဘာကိစ္စလဲ" အပါးတော်မြဲ သည် အိပ်ချင်မူးတူးဖြစ်နေရာမှ ကြောက်လန့်တကြား အော်လိုက်၏။ နာတာရှာသည် ၎င်း၏အော်သံကြောင့် အခန်းထောင့် ခုတင်ပေါ်တွင် လဲလျောင်းနေသည့် သဏ္ဌာန် အနားသို့ ခပ်သုတ်သုတ်ကပ်လာခဲ့သည်။ ထိုသဏ္ဌာန်သည် လူတစ်ယောက်၏သဏ္ဌာန်နှင့် မတူဘဲ ကြောက်စရာ ကောင်းလျက်ရှိသော်လည်း နာတာရှာအဖို့ကား ထိုသဏ္ဌာန် နားသို့ မရောက်မနေသွားရမည်သာ ဖြစ်လေသည်။ နာ တာရှာသည် အပါးတော်မြဲ အနီးမှ ခပ်သုတ်သုတ် ဖြတ် လာခဲ့၏။ ဖယောင်းတိုင်မှ မီးကျွမ်းနေသော မီးစာသည် ကြွေကျသွားကာ မီးရောင်သည် ပို၍လင်းလာလေရာ လက်နှစ်ဖက်ကို စောင်အပြင်ဘက်သို့ထုတ်၍ လဲလျောင်း လျက်ရှိသော မင်းသားကလေး အင်ဒရေကို မြင်ရ၏။ ဤသို့လဲလျောင်းနေသောပုံသဏ္ဌာန်မှာ နာတာရှာ၏မျက်စိ ထဲတွင် မြင်နေကျဖြစ်သည့် မင်းသားကလေးအင်ဒရေ လဲ လျောင်းနေသည့်သဏ္ဌာန်မျိုး ပေတည်း။

မင်းသားကလေးအင်ခရေ၏ရုပ်သွင်မှာ ယခင်က အတိုင်းပင် ဖြစ်သည်။ သို့ရာတွင် အဖျားသွေးတက်နေ သောမျက်နှာ၊ မိမိအား ပီတိအပြည့်ဖြင့် လှမ်းကြည့်နေ သောတောက်ပသည့် မျက်လုံးများ၊ အင်္ကျီလည်စည်းကို လှန်ထားသည့်အတွက် ကလေးငယ်၏လည်ပင်းပမာ နူးညံ့ဖြူဖွေးသောလည်ပင်းသားစသည်တို့ကြောင့် အပြစ် ကင်းသော ကလေးငယ်တစ်ယောက်နှင့် တူနေသည်။ နာ တာရှာသည် မင်းသားကလေးအင်ဒရေအား ဤအသွင် သဏ္ဌာန်မျိုးဖြင့် တစ်ခါမှ မမြင်ဖူးသေးချေ။ နာတာရှာ သည် သူ့ထံသို့ လျှောက်လာကာ ဖျတ်လတ် ပျော့ပျောင်း စွာဖြင့် အနီးတွင် ဒူးတုပ်၍ထိုင်ချလိုက်သည်။

မင်းသားကလေးအင်ဒရေက ပြုံး၍ လက်ကမ်း ပေးလိုက်လေသည်။

# အခန်း ၃၂

ဘိုရိုဒီနို စစ်မြေပြင် ရှေ့တန်းစခန်းဆေးရုံသို့ မင်းသား ကလေး အင်ဒရေ ရောက်လာခဲ့သည်မှာ တစ်ပတ်ခန့်ကြာ ခဲ့လေပြီ။ အပြင်းဖျားလျက်ရှိခြင်း၊ ဒဏ်ရာ ရသည့်အတွက် အူတွင် အနာဖြစ်လျက်ရှိခြင်းတို့ကြောင့် မင်းသားကလေး အင်ဒရေမှာ အသက်ရှင်ဖို့ မျှော်လင့်ချက်မရှိတော့ကြောင်း ဖြင့် ဆရာဝန်များက ယူဆကြသည်။ သို့ရာတွင် သတ္တမ မြောက်နေ့တွင်ကား မင်းသားကလေးအင်ဒရေသည် ပေါင် မုန့်တစ်ဖုံနှင့် လက်ဖက်ရည်တစ်ခွက်ကို အားပါးတရ စားသောက်စပြုလာကာ အဖျားမှာလည်း သိသိသာသာ ကြီးကျသွားသည်ကို တွေ့ရ၏။ မင်းသား ကလေးအင်ဒရေ သည် ထိုနေ့နံနက်မှပင် သတိပြန်လည်လာလေသည်။ မော်စကို မှ ထွက်ခွာလာခဲ့သည့်ညမှာ အတော်အသင့်နွေး ၍ နေထိုင်ကောင်းသောဥတုမျိုး ဖြစ်၏။ မင်းသားကလေး အင်ဒရေသည် ထိုညတစ်ညလုံး နှစ်ထပ်ပေါင်းမိုးနှင့် ကရထားထဲတွင် လိုက်ပါလာခဲ့၏။ သို့ရာတွင် မီတစ်ရှိ တောင်ရွာသို့ အရောက် တွင်ကား မင်းသားကလေး အင် ဒရေသည် မိမိအား ရထားပေါ်မှချရန်နှင့် လက်ဖက်ရည်  တိုက်ရန် တစာစာတောင်းဆိုခြင်း ပြုသည်။ ကရထား ပေါ်မှ တဲ ထဲသို့အရွှေ့တွင် ဒဏ်ရာပြင်းစွာနာသည့်အတွက် မင်းသားကလေး အင်ဒရေသည် အော်ဟစ်ညည်းညူကာ တစ်ဖန် သတိလစ်၍သွားပြန်သည်။ တဲထဲတွင် ခရီး ဆောင် ခေါက်ခုတင်တစ်လုံးကိုဖြန့်၍ ၎င်းကို နေရာချပေးပြီး သည့်နောက်တွင်မူ မင်းသားကလေးအင်ဒရေသည် အချိန် အတော်ကြာမျှ မှိန်းနေသည်။ လှုပ်ရှားခြင်း လည်း မရှိ တော့ချေ။ ထို့နောက် မျက်လုံးကိုဖွင့်၍ လက်ဖက်ရည် တောင်း ပြန်သည်။ မင်းသားကလေး အင်ဒရေမှာ သတိ ပြန်လည်လာသည့်အခါတွင် နေ့စဉ်ကိစ္စများကို အသေး စိတ်မှတ်မိလေရာ ဆရာဝန်ကပင် ၎င်း၏သတိကောင်း

ပုံ ကို အံ့သြရသေးသည်။ ဆရာဝန်သည် မင်းသားကလေး အင်ဒရေကို သွေးစမ်းကြည့်မိ၏။ သွေးတိုးပုံမှာ များစွာ တိုးတက်ကောင်းမွန်လာသည်ကို တွေ့ ရလေရာ ဆရာဝန် သည် အံ့သြရုံမျှမက အကြီးအကျယ် စိတ်ပျက်ခြင်းလည်း ဖြစ်ရသည်။ စိတ်ပျက်ရခြင်းအကြောင်းကား မိမိ၏လူနာ ယခုအချိန်ထိ အသက်ရှင်နေခြင်းသည် နောက်များ မကြာမီ ထို့ထက်ဝေဒနာပြင်းစွာခံရပြီး သေဆုံးဖို့သာ ဖြစ်ကြောင်း အတွေ့အကြုံအရ သိပြီးဖြစ်သောကြောင့် ဖြစ်လေသည်။ မင်းသားကလေးအင်ဒရေ၏တပ်ရင်းမှ နှာခေါင်းနီနီနှင့် ဗိုလ်မှူးတစ်ဦးဖြစ်သူ တီမိုခင်သည် မော်စကိုမှ မိမိ၏တပ် ရင်းမှူးနှင့် အတူ လိုက်ပါလာခဲ့ခြင်းဖြစ်၏။ တီမိုခင်မှာလည်း ဘိုရိုဒီနိုတိုက်ပွဲ၌ ခြေထောက်တွင် ဒဏ်ရာရလာ ခဲ့လေသည်။ လူနာနှစ်ဦးကို ဆရာဝန်၊ မင်းသားကလေးအင် ဒရေ၏အပါးတော်မြဲ၊ ရထားထိန်းနှင့် တပ်လုလင်နှစ် ယောက်က စောင့်ရှောက်လိုက်ပါလာကြ၏။

လက်ဖက်ရည် တိုက်သောအခါတွင် မင်းသား ကလေး အင်ဒရေသည် ရှေ့တူရူရှိ တံခါးကို ချည့်နဲ့သော မျက်လုံးများဖြင့် ကြည့်ကာ လက်ဖက်ရည်ကို အားရပါးရသောက်နေသည်။ ၎င်း၏အမူအရာမှာ တစ်စုံတစ်ရာ ကို စဉ်းစားနေသကဲ့သို့ရှိ၏။

“တော်ပြီ။ တီမိုခင် ပါလာသလား” ၊ တီမိုခင်သည် ခုံတန်းလျားပေါ်တွင် ဒ ရွတ်တိုက် ၍ ရွှေ့ လာ၏။

“ရှိပါတယ် ကိုယ်တော်လေး”

”ခင်ဗျားဒဏ်ရာ ဘယ့်နှယ်နေသေးသလဲ”

”သက်သာပါတယ်။ ကိုယ်တော်လေးကော”

မင်းသားကလေးအင်ဒရေသည် တစ်စုံတစ်ရာကို စဉ်းစားနေပြန်သည်။

“စာအုပ်ကလေးတစ်အုပ်တလေလောက် မပါကြ ဘူးလားဗျ”

“ဘာစာအုပ်ဖတ်ချင်လို့လဲ ကိုယ်တော်လေး”

“ခရစ်ဝင်ကျမ်း ဖတ်ချင်တယ်ဗျာ။ ကျုပ်မှာ ပါ မလာဘူး” ၊ ဆရာဝန်က စာအုပ်ကို သူရှာပေးမည်ဟု ပြောကာ မင်းသားကလေးအင်ဒရေ၏ဒဏ်ရာကို မေးမြန်းနေ သည်။ မင်းသားကလေး အင်ဒရေသည် ဆရာဝန်မေးသမျှ ကို ခပ် ဆိုင်းဆိုင်းစဉ်းစား၍ဖြေပြီးနောက် တစ်ကိုယ်လုံး နာကျင် ကိုက်ခဲကာ မအီမသာ ဖြစ်နေသည့်အတွက် အောက်မှ မှီအုံးခံပေးရန်ပြောသည်။ ဆရာဝန်နှင့် အပါးတော်မြဲသည် မင်းသားကလေး အင်ဒရေကိုယ်ပေါ်မှ ဝတ်ရုံကြီးကို ခွာ လိုက် သည်တွင် ဒဏ်ရာမှ စူးဝါးသောအပုပ်နံ့ကြီးသည် ထောင်းခနဲထွက်လာသဖြင့် မျက်နှာကိုရှုံ့လိုက်မိကြရာက ကြောက်စရာကောင်းလှသော ဒဏ်ရာကြီးကို ကြည့် နေကြ သည်။ ဆရာဝန်မှာ မျက်နှာပျက်သွား၏။ ထို့နောက် ပတ်တီးများလဲ၍ စည်းပေးကာ လူနာကို တစ်ဖက်သို့ စောင်းစေရာ နာကျင်လွန်းလှသဖြင့် လူနာ သည် ညည်း တွားရာမှ တစ်ဖန်သတိလစ်သွားပြန်လျက် ယောင်ယမ်း ငန်းဖမ်း လျက် ရှိလေသည်။ လူနာသည် ကျမ်းစာအုပ်ကို ယူ၍ မိမိအိပ်ရာအောက်တွင်ထား ပေးရန် ပြောလျက်

”ခင်ဗျားတို့မှာ ဒီစာအုပ်ကလေး ယူပေးလို့ ဘာမှ အပန်းမကြီးပါဘူးဗျာ။ ကျွန်တော့်မှာ မရှိလို့ပါ။ ယူပေးပြီး အိပ်ရာအောက် ထားပေးကြစမ်းပါ။ ခဏ ဖြစ်ဖြစ် ထား ပေးကြပါ”

လူနာသည် သနားစဖွယ် ယောင်ယမ်းနေသည်။ ဆရာဝန်သည် အပြင်သို့ ထွက်၍ လက်ဆေးနေသည်။

“ခင်ဗျားကြီးတို့ဟာ ဘာမဉာဏ်မရှိဘူး” ဆရာဝန် သည် လက်ကို ရေလောင်းပေးနေသော အပါးတော်မြဲ အား မာန်နေ၏။ “ခု ကျုပ် ခဏမျက်နှာလွှဲ

ရုံနဲ့ ဟိုမှာ ခံနေရပြီ။ ဒီလောက်ပြင်းတဲ့ဒဏ်ရာကြီးကို ဒီလောက် ကြာကြာခံနေရ ရင် သေရောပေါ့ဗျ”

ရှိ၏။

“ကျုပ်ကလဲ အောက်မှာ မှီအုံးခုထားသလားလို့ အသာကြည့်နေလိုက်တာပဲ ဆရာ” အပါးတော်မြဲက ဆို၏။

မင်းသားကလေးအင်ဒရေသည် မီတစ်ရှိတောင်ရွာ သို့ရောက်၍ ရထားပေါ်မှ ရွှေ့ပေးရန် ပြောသည့်အချိန် ကျမှ မိမိရောက်နေသည့်နေရာ၊ မိမိဖြစ်ပျက်သည့် အခြေ အနေ မည်သို့မည်ပုံ ဒဏ်ရာရခဲ့ပုံ စသည်တို့ကို ပထမဆုံး အကြိမ် သတိရ လေသည်။ တဲထဲသို့ ရွှေ့ပြောင်းသည့် အခါ၌ မင်းသားကလေးအင်ဒရေမှာ ဒဏ်ရာ ပြင်းစွာ နာကျင်သည့်အတွက် မေ့မြောသွားပြီးနောက် တဲထဲသို့ ရောက်၍ အတန်ကြာမှ သတိပြန်လည်လာခဲ့ခြင်း ဖြစ်၏။ လက်ဖက်ရည်သောက်သည့် အခါ၌လည်း မင်းသားကလေး အင်ဒရေသည် မိမိ၏အဖြစ်၊ မိမိတွေ့ခဲ့ရသည့် အခြင်းအရာ များကို ပြန်၍ စဉ်းစားမိပြန်သည်။ သို့စဉ်းစားရင်း ဘိုရို ဒီနို စစ်မြေပြင် ရှေ့တန်းဆေးရုံစခန်း၌ မိမိရန်ငြိုးဖွဲ့ ခဲ့ဖူးသော လူတစ်ယောက်၏ ဝေဒနာခံစားရပုံကို မြင် ယောင်လာသည်။ ထိုလူကို မြင်ခဲ့ရာမှ မိမိစိတ်ချမ်းသာ မှု ကို ပေးခဲ့သော အတွေးသစ်များကို အမှတ်ရလာသည်။ ထိုအတွေးများသည် ပီပီ ပြင်ပြင်မရှိလှသေးသော်လည်း ယခုတစ်ဖန် ခေါင်းထဲတွင် ဝင်ရောက်လာကြ ပြန်သည်။ မင်းသားကလေးအင်ဒရေသည်ယခုအချိန်၌ စိတ်ချမ်းမြေ့မှု တစ်မျိုးကို ရနေသည်ဟုထင်၏။ ထိုစိတ်၏ချမ်းမြေ့ခြင်း သည် ခရစ်ဝင်ကျမ်းနှင့်ပတ်သက် နေသည်ဟု ယူဆ၏။ ထို့ကြောင့် ထိုကျမ်းစာအုပ်ကို တဖွဖွတောင်းနေခြင်း ဖြစ် လေသည်။ ဆရာဝန်က မိမိအား တစ်ဖက်သို့စောင်းပေးခဲ့ သည့်အခါတွင် မင်းသား ကလေးအင်ဒရေ၏စိတ်ကူးများ သည် ဝိုးတဝါး ဖြစ်လာကြပြန်သည်။ တတိယ

အကြိမ် ပြန်လည်သတိရလာသည့်အခါ၌ကား ညသည် လုံးဝတိတ် ဆိတ်လျက် ရှိလေပြီ။ မိမိအနီးရှိ လူများမှာလည်း အိပ် ပျော်နေကြပေပြီ။ တဲတစ်ဖက်အစွန်းဆီမှ ပုရစ်တစ်ကောင် ၏ အော်မြည်သံကို ကြားရ၏။ လမ်းမပေါ်မှ သီချင်းဆိုသံ ကိုလည်း ကြားရ၏။ ပိုးဟပ်များသည် စားပွဲပေါ်တွင်လည်း ကောင်း၊ ဆင်းတုတော်ပုံကားများပေါ်တွင်လည်းကောင်း၊ နံရံပေါ်တွင်လည်းကောင်း ပြေးလွှားနေကြသည်။ ယင်မ မဲရိုင်းကြီးတစ်ကောင်သည် ခုတင်ခေါင်းရင်းနှင့်ခုတင်ဘေး ပျားဖယောင်းတိုင်အနီးတွင် တဝီဝီပျံဝဲလျက်ရှိ၏။ ပျား ဖယောင်းတိုင်မှ မီးစာမှာ ကုန်ခါနီးလေပြီ။

မင်းသားကလေးအင်ဒရေ၏စိတ်သည် တည်ငြိမ် ခြင်း မရှိတော့ချေ။ ကျန်းမာသောလူတစ်ယောက်သည် အဖြစ်အပျက် သို့မဟုတ် အကြောင်းခြင်းရာများစွာကို တစ်ပြိုင်နက်တည်း တွေးနိုင်စွမ်း၊ ခံစားနိုင်စွမ်း၊ မှတ်မိ နိုင်စွမ်း ရှိ၏။ မိမိ အာရုံကျက်စားရမည့်အဖြစ်တစ်ခု သို့ မဟုတ် အကြောင်းခြင်းရာတစ်ခုကိုလည်း ထိုအထဲမှ ချက်ချင်းရွေးထုတ်ကား အာရုံသို့ ဒက်ခနဲ ရောက်အောင် ပို့ဆောင်နိုင်စွမ်း ရှိ၏။ ကျန်းမာသောလူတစ်ယောက် သည် လေးနက်စွာ တွေးတော စဉ်းစားနေရာမှ မိမိအနီးသို့ ရောက်လာသူတစ်ယောက်ကို ယဉ်ကျေးသိမ်မွေ့စွာ ပဋိ သန္ဓာရစကားဆိုပြီးနောက် မိမိ၏အတွေးကို ဆက်လက် ၍ တွေးတောနိုင်စွမ်းရှိ၏။ သို့ရာတွင် မင်းသားကလေး အင်ဒရေ၏စိတ်ကား ထိုအရာများကို လုပ်နိုင်စွမ်း မရှိ တော့ချေ။ မင်းသားကလေးအင်ဒရေ၏စိတ်အာရုံများသည် ယခင်ကထက် ထက်မြက်သန်စွမ်းလာကြသော်လည်း ထို အာရုံများသည် ၎င်း၏ဆန္ဒနှင့် ဆန့်ကျင်၍ အလုပ်လုပ် လျက် ရှိကြလေပြီ။ အမျိုးမျိုးသောအတွေးများ၊ ရုပ်ပုံ များသည် ၎င်း၏ခေါင်းထဲသို့ စုပြုံဝင်ရောက်လာကြသည်။ တစ်ခါတစ်ရံ၌ ၎င်း၏ဦးနှောက်သည် ကျန်းမာစဉ် ကထက်ပင် ပို၍အလုပ်လုပ်၏။ သို့ရာတွင် ဤသို့ အလုပ် လုပ်လျက်ရှိရာမှ ဦးနှောက်သည် အာရုံတစ်ခုဆီ

သို့ ရုတ် တရက်ရောက်သွားပြန်သည်။ ထိုအခါ၌ မင်းသားကလေး ( အင်ဒရေ
သည် သူ့အတွေးများကို မူရင်းအာရုံသို့ပြန်ရောက် အောင် ပြုလုပ်နိုင်စွမ်း မရှိတော့
ချေ။

“ဟုတ်တယ်။ လူသတ္တဝါတွေအားလုံးမှာ မရှိရင် မဖြစ်တဲ့ စိတ်၏ငြိမ်းချမ်း
ခြင်းကို ငါတွေ့ပြီ။ ငါ တွေ့ပြီ”

မင်းသားကလေး အင်ဒရေသည် မှောင်တစ်ဝက် လင်းတစ်ဝက်ဖြစ်လျက်ရှိ
သော တဲတွင်း တစ်နေရာကို ချည့်နဲ့သောမျက်လုံးများဖြင့် စူးစိုက်ကြည့်နေသည်။

“ရုပ်အင်အားစုတွေရဲ့ ပြင်ပမှာရှိတဲ့ ငြိမ်းချမ်းခြင်း ကို တွေ့ပြီ။ လူတွေကို
နဖားကြိုးတပ်ခိုင်းနေတဲ့ ရုပ်တရား ရဲ့ သြဇာအရှိန်အဝါတွေရဲ့ ပြင်ပမှာ ရှိတဲ့
ငြိမ်းချမ်းခြင်းကို ငါ တွေ့ရပြီ။ ဒီငြိမ်းချမ်းခြင်းဟာ စိတ်တည်းဟူသော အတွင်း
အဇ္ဈတ္တရဲ့ ငြိမ်းချမ်းခြင်း ဖြစ်တယ်။ ချစ်ခင်မြတ်နိုး ရခြင်းကြောင့်ဖြစ်သော
ငြိမ်းချမ်းခြင်း ဖြစ်တယ်။ လူတွေ ကို  ဟာ ဒီငြိမ်းချမ်းခြင်းသုခကို နားမလည်တာ
မဟုတ်ဘူး။ နားလည်ကြတယ်။ ဒါပေမဲ့ ဒီလူတွေဟာ သိလျက်နဲ့ ဘာ့ကြောင့်များ
ငြိမ်းချမ်းခြင်းကို မရှာကြတာပါလိမ့်။ ဘုရားသခင်ဟာ တရားတော်ကို ဘယ်ပုံများ
ပညတ်တော် မူပါလိမ့်”

ဤသို့တွေးရင်း မင်းသားကလေးအင်ဒရေ၏အာရုံ အစဉ်သည် ပြတ်သွား၏။
တစ်ပြိုင်နက်တည်းမှာပင် “ဖျပ်ဖျပ် ဖျပ်ဖျပ်” ဟု ညံ့ညံ့ညင်းညင်းမြည်သော အသံ
တစ်ခုကိုကြားရ၏။ ထိုအသံသည် တိုသွားလိုက် ရှည်သွား လိုက်ဖြင့် တစ်ရံမလပ်
ထွက်ပေါ်နေ၏။ (မိမိစိတ်က ကြားခြင်းလော၊ တကယ်ကြားခြင်းလောဆိုသည်ကို
မူ ခွဲခြားမရချေ။) ထိုအသံနှင့်အတူ မိမိ၏မျက်နှာအပေါ် အလယ်တည့်တည့်၌
သေးမျှင်သောအပ်ချောင်းကလေး များသည် တစ်ချောင်းနှင့် တစ်ချောင်း၊ တစ်
ချောင်းပေါ် တစ်ချောင်း အစီအရီထပ်၍ ပြာသာဒ်သဖွယ်တည်လျက် ရှိသည်ဟု

ထင်ရ၏။ "ဖျပ်ဖျပ် ဖျပ်ဖျပ်" မြည်သံမှာ ထို အပ်ချောင်းပြာသာဒ်မှ ထွက်ပေါ်လာသောအသံများ ဖြစ် တန်ရာ၏။ မင်းသားကလေး အင်ဒရေသည် မိမိ၏ မျက်နှာပေါ်မှ အထက်သို့ မြင့်၍ မြင့်၍တက်သွားသော အပ်ချောင်း ပြာသာဒ် ပြိုလဲမသွားစေရန်အတွက် ကိုယ်ကို လှုပ်ရှားခြင်း မပြုမိအောင် မနည်းကြီး သတိထားနေရ၏။ (ဤသို့ မလှုပ်ဘဲနေရခြင်းအတွက်ဖြစ်သော ပင်ပန်းခြင်း ဆင်းရဲကား ကြီးလှစွာ၏။) သို့ရာတွင် အာရုံကိုချုပ်၍ လှုပ်ရှားခြင်းမပြုဘဲ နေသည့်တိုင်အောင် အပ်ချောင်း ပြာသာဒ်သည် ပြိုကျလာလိုက်၊ "ဖျပ်ဖျပ် ဖျပ်ဖျပ်' မြည် သောအသံကို ပြု၍ အသစ်တက်လာလိုက်ဖြင့် ဖြစ်တည်။ ပျက် သံသရာ၌ ဝဲလှည့်နေသည်။

"ဟာ အထက်ကို တက်သွားပြန်ပြီ။ တက်သွားပြီ၊ တက်သွားပြီ။ ဟော ပြိုကျသွားပြန်ပြီ။ ဟော တက်သွား ပြန်ပြီ"

မင်းသားကလေး အင်ဒရေသည် ဤသို့ တွေးမိ သည်။ "ဖျပ်ဖျပ် ဖျပ်ဖျပ်" မြည်သောအသံကို နားထောင် ၍ အပ်ချောင်းပြာသာဒ်ကြီး ဖြစ်လာခြင်းကိုလည်းကောင်း၊ ပျက်သွားခြင်းကို လည်းကောင်း ကြည့်ရင်း ဖယောင်းတိုင်မီးတောက်ဘေးပတ်လည်၌ ရစ်သန်းလျက်ရှိသော အလင်း ရောင် စက်ဝန်းကလေးကိုလည်း မြင်မိသည်။ တရှပ်ရှပ်  ပြေးသွားနေသော ပိုးဟပ်များအသံကိုလည်း ကြားမိသည်။ ( မိမိမျက်နှာနှင့် ခေါင်းအုံးကို လာထိ၍ တဝီဝီအော်မြည် နေသော ယင်မမဲရိုင်းကြီး၏အသံကိုလည်း ကြားနေသည်။ မျက်နှာပေါ်သို့ ယင်မမဲရိုင်းလာနားသည့်အခါ၌ မင်းသား ကလေးအင်ဒရေ၏မျက်နှာမှာ ယားကျိကျိဖြစ် လာသည်။ ( သို့ရာတွင် အပ်ချောင်းပြာသာဒ်မှာ ပြိုလဲခြင်း မရှိသည်ကို တွေ့ရသည့်အတွက် အံ့ဩမိသေးသည်။ အပ်ချောင်း ပြာသာဒ်တည်ရာ မျက်နှာအလယ်တည့်တည့်သို့ ယင်မည်း ရိုင်းကြီးက လာနားနေသည့်အခါ၌လည်း အပ်ချောင်း ပြာသာဒ် ပကတိအတိုင်း ရှိနေသည်ကို တွေ့ရသည်။ ဤ

အတောအတွင်း မင်းသားကလေးအင်ဒရေသည် တံခါးဝ၌ ဖြူဖြူသဏ္ဍာန်တစ်ခုကို မြင်လိုက်မိသည်။ ထိုသဏ္ဍာန်မှာ မိန်းမတစ်ပိုင်း ခြသေ့်တစ်ပိုင်း နတ်ရုပ်တစ်ခုဟု ထင်သည်။ မင်းသားကလေးအင်ဒရေသည် ထိုသဏ္ဍာန်ကို မြင်လိုက် သည်နှင့် နှလုံးခုန်ခြင်း ရပ်သွားသကဲ့သို့ တုံ့ခနဲခံစား လိုက်ရသည်။

"စားပွဲပေါ်မှာ တင်ထားတဲ့ ငါ့အကျႌများလား" ဟု တွေး၏။ "ဒါက ငါ့ ခြေထောက်၊ ဒါက တံခါး၊ အိုဒီဖျပ် ဖျပ် ဖျပ်ဖျပ်အသံကလဲ ပျောက်နိုင်ခဲလိုက်တာ။ ခု ဖြစ် လိုက် ခုပျက်လိုက်နဲ့ ဆုံးပဲ မဆုံးနိုင်တော့ဘူးလား။ ဒီ လောက်ဆို တော်ပါ တော့။ ငါ သွားပရစေတော့"

မင်းသားကလေး အင်ဒရေသည် သနားစဖွယ် တောင်းပန်လျက် ရှိသည်။ ထို အခိုက် အတွေးများ၊ အာရုံ များသည် ကြည်လင်ပီသစွာ ပြန်၍ ပေါ်လာကြ ပြန်သည်။

"ဟုတ်တယ်။ လောကမှာ ချစ်ခြင်းမေတ္တာဟာ အရေးကြီးဆုံးပဲ။ ဒါပေမဲ့ တစ်စုံတစ်ခုသောအရာကို ကပ်ငြိတဲ့ချစ်ခြင်းမေတ္တာမျိုး မဟုတ်ဘူး။ တစ်စုံတစ်ခု သော အရည်အသွေးကိုတပ်မက်တဲ့ ချစ်ခြင်းမေတ္တာ မဟုတ်ဘူး။ တစ်စုံတစ်ခု သော ရည်ရွယ်ချက်ကို စွဲလမ်းတဲ့ ချစ်ခြင်းမေတ္တာမျိုး မဟုတ်ဘူး။ တစ်စုံတစ်ခု သော အကျိုး စီးပွားကို ခုံမင်တဲ့ချစ်ခြင်းမေတ္တာမျိုး မဟုတ်ဘူး။ သေလု မြောပါး ဖြစ်နေတဲ့အချိန်မှာ ငါ့ရန်သူကို မြင်လျက်သားနဲ့ သူ့အပေါ်မှာ မေတ္တာတရား ပွားများနိုင်တဲ့ ချစ်ခြင်းမေတ္တာ မျိုးသာ ဖြစ်တယ်။ ဒီချစ်ခြင်းမေတ္တာကို ငါ ပထမ ဆုံး တွေ့ခဲ့ဖူးပြီ။ ဒီချစ်ခြင်းမေတ္တာမျိုးသာလျှင် စိတ်ရဲ့ မူလ ပစ္စည်း ဖြစ်တယ်။ ဟဒယရဲ့ မူလပစ္စည်း ဖြစ်တယ်။ ဒီ  ချစ်ခြင်းမေတ္တာမျိုးဟာ ဘယ်အရာကိုမှ တွယ်တာနှောင်ဖွဲ့ ခြင်း မရှိဘူး။ ခုတော့ ငါ တကယ့်သုခချမ်းသာအစစ်ကို ရပြီ။ မိမိ၏အိမ်နီးချင်းကို ချစ်ခင်ခြင်း၊ မိမိ၏ ရန်သူကို ချစ်ခင်ခြင်း၊ ခပ်သိမ်းကုန်သော

သတ္တဝါတို့ကို ချစ်ခင် ခြင်းစတဲ့ ချစ်ခြင်းမေတ္တာမျိုးလောက် မြင့်မြတ်စင်ကြယ် တဲ့ ချစ်ခြင်းမေတ္တာမျိုးဟာ လောကမှာ မရှိဘူး။ လူ တစ်ယောက်ဟာ သူချစ်ခင်နှစ်သက်တဲ့ လူတစ်ယောက်ကို အနုသယကိလေသာတည်းဟူသော ကပ်ငြိတဲ့ စိတ်နဲ့သာ ချစ်နိုင်တယ်။ ဒါပေမဲ့ ရန်သူတစ်ယောက်ကိုတော့ ၇ ရ ဆေးကပုဂ္ဂိုလ်များမှာသာ ကိန်းအောင်းနိုင်တဲ့ တကယ့်ဖြူ စင်တဲ့ချစ်ခြင်းမေတ္တာမျိုးနဲ့သာ ချစ်ခင်နိုင်တယ်။ ဒါကြောင့် မို့ ငါဟာ ဒီလူကို ချစ်ခင်တယ်ဆိုတဲ့ အသိပေါ်ပေါက် လာချိန်မှာ ချမ်းသာသုခကို ခံစားရခြင်း ဖြစ်တယ်။ ခု သူ ဘယ်လိုများ ဖြစ်နေပါလိမ့်။ အသက်ချမ်းသာရာမှ ရပါလေရဲ့လား။

"ဟာ၊ သိတ ပေမ တဏှာမျိုးဟာ အချစ်ကနေ အမုန်းကို ကူးပြောင်းသွားနိုင်တယ်။ ဒါပေမဲ့ မေတ္တာ တရားကတော့ ဘယ်တော့မှ မပြောင်းလဲဘူး။ မေတ္တာ တရားကို ဘယ်အရာမှ မဖျက်ဆီးနိုင်ဘူး။ သေခြင်းတရား ကလဲ မဖျက်ဆီးနိုင်ဘူး။ ဒီချစ်ခြင်းမေတ္တာမျိုးသာလျှင် စိတ်၏ မူလပစ္စည်း ဖြစ်တယ်။ ဒါနဲ့တောင်မှ ငါ့ တစ်သက် မှာ ငါဟာ လူတွေတော်တော်များများအပေါ်မှာ မုန်းခဲ့ဖူး ပါပကော လား။ အဲဒီအထဲမှာ ငါဟာ နာတာရှာကို ချစ် သလောက် ဘယ်သူ့ကိုမှလဲ မချစ်ခဲ့ဖူးသေးဘူး။ သူ့ကို မုန်းသလောက် ဘယ်သူ့ကိုမှလဲ မမုန်းခဲ့ဖူးသေးဘူး"

ဤသို့ တွေးရာမှ မင်းသားကလေး အင်ဒရေသည် နာတာရှာကို စိတ်ကူးဖြင့် မှန်းကြည့်သည်။ ယခင်ကမူ နာတာရှာ၏ ချစ်ခင်နှစ်လိုဖွယ်သော ရုပ်ဆင်းသဏ္ဍာန်ကို မြင်၍ စိတ်၌ ကြည်နူးခြင်းဖြစ်ခဲ့ရ၏။ ယခုကား မင်းသား ကလေးအင်ဒရေသည် နာတာရှာ၏ လှပကြော့ရှင်းသော ဆင်းပြင် ရုပ်ဝါကို မမြင်တော့ချေ။ နာတာရှာ၏အတွင်း စိတ်ကို မြင်ရလေပြီ။ နာတာရှာ၏ စိတ်ဝေဒနာ၊ နာတာရှာ၏ခံစားချက်၊ နာတာရှာ၏ ဩတ္တပစိတ်၊ နာတာရှာ၏ နောင်တစိတ်တို့ကို မြင်ရလေပြီ။ မင်းသားကလေးအင်ဒရေ သည်နာတာရှာကို စိမ်းစိမ်းကားကား ပစ်ပယ်ခဲ့ခြင်း၊ ရက်ရက် စက်စက်ပြုခဲ့ခြင်းအတွက် နောင်တရစပြုလေပြီ။

”အင်း ခုနေ နာတာရှာနဲ့ တစ်ကြိမ်လောက်တွေ့ ချင်လိုက်ပါဘိ။ သူ့မျက်လုံး တွေကိုကြည့်ပြီး စကားလေး တစ်ခွန်းလောက် ပြောချင်စမ်းပါ”

“ဖျပ်ဖျပ် ဖျပ်ဖျပ်” နှင့် မြည်သံသည် ထွက်ပေါ်မြဲ ထွက်ပေါ်လျက်ရှိ၏။ ယင်မမဲရိုင်းကြီးသည် “ဝီခန်”

အော်၍ လာနား၏။ မင်းသားကလေး အင်ဒရေ၏ စိတ် ကူးတို့သည် အမျှင် ပြတ်သွားကာ အာရုံသည် အခြားသို့ ရောက်သွားပြန်၏။ အပ်ချောင်းပြာသာဒ် သည် တဖြည်း ဖြည်း မြင့်တက်လာလျက် ရှိ၏။ ဖယောင်းတိုင်မီးတောက် ဘေးမှ အလင်းရောင်စက်ဝန်းသည်လည်း လင်းလျက် ရှိ၏။ မိန်းမတစ်ပိုင်း ခြသေ့် တစ်ပိုင်း နတ်နှင့် တူသော ဖြူဖြူသဏ္ဍာန်သည်လည်း တံခါးဝတွင် မလှုပ်မယှက် ရပ်လျက် ရှိ၏။ ထိုအခိုက် တံခါးသည် ကျွီခနဲ မြည်လာ ကာ လေစိမ်း ဝင်လာ၏။ ခြသေ့်တစ်ပိုင်း မိန်းမတစ်ပိုင်း နတ်ရုပ်နှင့်တူသော နောက်ထပ်သဏ္ဍာန်တစ်ခု တံခါးဝ တွင် ပေါ်လာ၏။ ထိုသဏ္ဍာန်၏မျက်နှာသည် ဖြူဖျော့ လျက်ရှိ၍ မျက်လုံး များမှာ သူတွေးနေသော နာတာရှာ၏ မျက်လုံးများနှင့် ဆင်၏။

မင်းသားကလေးအင်ဒရေသည် ကယောင်ချောက် ချား ဖြစ်နေခြင်းကို စိတ်တိုလာကာ ထိုသဏ္ဍာန်ကို စိတ် ကူးထဲမှ ဖျောက်ပစ်၏။ သို့ရာတွင် ထို သဏ္ဍာန်သည် တကယ့်သဏ္ဍာန်ပမာ ရပ်လျက်ရှိကာ အနားသို့ တိုးလာ ၏။ မင်းသားကလေးအင်ဒရေသည် ခပ်စောစောကကဲ့သို့ ချစ်ခြင်းမေတ္တာ၏ သရုပ်သကန်ကို စဉ်းစားလိုသဖြင့် သူ့ အာရုံကို ပြောင်းရန် ကြိုးစား၏။ သို့ရာတွင် အာရုံကို ပြောင်း၍ မရတော့ချေ။ “ဖျပ်ဖျပ် ဖျပ်ဖျပ်” မြည်သံသည် တစ်ရံမလပ် ထွက်ပေါ်လျက် ရှိ၍။ အပ်ချောင်းပြာသာဒ် သည်လည်း တဖြည်းဖြည်း မြင့်လာခဲ့ လေပြီ။ ထူးဆန်း သော ဖြူဖြူသဏ္ဍာန်သည်လည်း အနားသို့ ရောက်လာခဲ့ လေပြီ။ မင်းသားကလေးအင်ဒရေသည် ရှိသမျှအင်အား ကို စုစည်းကာ အာရုံပြောင်း

အောင် ကြိုးစားသည်။ ကိုယ်ကို လှုပ်သည်။ ကိုယ်ကို လှုပ်လိုက်သည်နှင့် တစ်ပြိုင်နက် နားမှ တရှီရှီလေထွက်လာကာ မျက်လုံးများ သည် မှုန်ဝါးလာကြသည်။ ထို့နောက်၌ကား ရေထဲသို့ စုပ်ခနဲ မြုပ်သွားသူကဲ့သို့ သတိလစ်သွားလေသည်။ သတိ ရလာသောအခါ၌ကား............။

သတိရလာသောအခါ၌ကား ကမ္ဘာပေါ်ရှိ လူသား များအနက် အဖြူစင်ဆုံး၊ အသန့်စင်ဆုံး၊ အမွန်မြတ်ဆုံး ချစ်ခြင်းမေတ္တာဖြင့် မိမိအချစ်လိုဆုံးသော နာတာရှာ၊ စိတ်ထင်မဟုတ်ဘဲ တကယ်အသက်ရှင် လှုပ်ရှားနေသော နာတာရှာ၊ ထိုနာတာရှာသည် သူ့အပါးတွင် ဒူးထောက်၍ ထိုင်လျက် ရှိ၏။ ထိုသဏ္ဌာန်သည် တကယ့်နာတာရှာဖြစ် ကြောင်း မင်းသားကလေး အင်ဒရေ သိ၏။ သို့ရာတွင် မင်းသားကလေးအင်ဒရေသည် အံ့သြခြင်း မဖြစ်တော့ချေ။ စိတ်ထဲ၌ ကြည်နူးလန်းဆတ်ခြင်းသာဖြစ်ပေါ်လာ၏။ နာတာရှာသည် ဒူးတုပ်၍ မလှုပ်မယှက်ထိုင်နေရာမှ (လှုပ်လည်း မလှုပ်နိုင်တော့ပါ။) ထိတ်လန့်စိုးရွံ့သော မျက်လုံးများဖြင့် မင်းသားကလေး အင်ဒရေကို ကြည့်ရင်း ကျိတ်၍ ငိုရှိုက်လျက် ရှိ၏။ နာတာရှာ၏မျက်နှာသည် ဖြူရော်ကာ အသက်ကင်းမဲ့လျက် ရှိ၏။ နှုတ်ခမ်းကလေး များသာလျှင် တရွရွလှုပ်နေကြလေသည်။

မင်းသားကလေး အင်ဒရေသည် သက်မကြီးချ လိုက်၍ ပြုံးကာ လက်ကို ကမ်းပေးလိုက်၏။

“နာတာရှာ” မင်းသားကလေး အင်ဒရေက ခေါ် လိုက်၏။ “လာသေးတယ် နော်”

နာတာရှာသည် ဒူးထောက်လျက်က မင်းသား ကလေးအင်ဒရေ၏အနီးသို့ တိုးလာပြီး လက်ကို ယုယစွာ ကိုင်၍ နှုတ်ခမ်းများဖြင့် ညင်သာစွာနမ်းလျက် ရှိသည်။

“နာတာရှာကို ခွင့်လွှတ်ပါ အစ်ကို” နာတာရှာ သည် ခေါင်းကိုမော့၍ မင်းသားကလေးအင်ဒရေကို ကြည့်ကာ လေသံဖြင့်ဆို၏။ “နာတာရှာ့ကို ခွင့်လွှတ်ပါ”

“နာတာရှာကို အစ်ကိုချစ်တယ်” မင်းသားကလေး အင်ဒရေက ပြောသည်။

“နာတာရှာ့ကို ခွင့်လွှတ်”

”ဘာ့အတွက် ခွင့်လွှတ်ရမှာလဲ နာတာရှာ”

“နာတာရှာ နာတာရှာ ပြုမှားမိခဲ့သမျှ ခွင့်လွှတ်ပါ အစ်ကို” နာတာရှာသည် ကြားနိုင်ရုံမျှ လေသံသဲ့သဲ့ ကလေးဖြင့် အနိုင်နိုင်ဆိုကား မင်းသားကလေး အင်ဒရေ၏ လက်ကို နှုတ်ခမ်းများဖြင့် ထိ၍ တရှုပ်ရှုပ်နမ်းနေသည်။

“နာတာဂှကို အစ်ကိုချစ်တယ် နာတာရှာ။ အရင်တုန်းကထက် ပိုလို့ချစ်တယ်။ ပိုလို့ မြတ်နိုးတယ်။” မင်းသားကလေးအင်ဒရေသည် နာတာရှာ၏မျက်နှာကို ( လက်ဖြင့် မယူကာ မျက်လုံးများကို ကြည့်နေသည်။

ကြည်နူးသောမျက်ရည်တို့ ဝေ့လည်လျှက်ရှိသည့် နာတာရှာ၏မျက်လုံးများသည် မင်းသားကလေးအင်ဒရေ ကို ရှက်ရွံ့ကြင်နာစွာ ကြည့်နေကြသည်။ နာတာရှာ၏ သွယ်လျဖြူရော်သော မျက်နှာကလေးသည် ရှိုးသား၍ အပြစ်ကင်းသော အသွင်ကို ဆောင်လျှက် ရှိသည်။ သို့ရာ တွင် မင်းသားကလေးအင်ဒရေသည် နာတာရှာ၏မျက်နှာ တစ်ခုလုံးကို မမြင်။ တဖျတ်ဖျတ်တောက်၍ နေသော လှပသည့် နာတာရှာ၏မျက်လုံးများကိုသာ မြင်နေ၏။ ထိုအခိုက် တံခါးပေါက်မှ အသံများ ကြားရ၏။

မင်းသားကလေးအင်ဒရေ၏ အပါးတော်မြဲသည် အိပ်ရာမှ နိုးကာ ဆရာဝန်ကို နှိုးလာ၏။ ခြေထောက် ကိုက်သဖြင့် အိပ်၍မပျော်သောတီမိုခင်သည် ၎င်းတို့

နှစ်ဦး ကို ငေးကြည့်နေရင်း ကိုယ်ကို စောင်ဖြင့်ပတ်ကာ ခုံ တန်းလျားပေါ်မှ ဖင်ဒ ရွတ်ဆွဲ၍ တိုးလာ၏။

"ဟင် ဘယ်လိုဖြစ်တာလဲ။ ကဲ ကျေးဇူးပြုပြီး ကိုယ့်စခန်း ကိုယ်ပြန်ပါဗျာ။ ကျွန်တော် တောင်းပန်ပါ တယ်" ဆရာဝန်က အိပ်ရာမှထလာရင်း ဆို၏။

ထိုအတောအတွင်း အိပ်ရာထဲတွင် နာတာရှာ ပျောက်နေကြောင်း တွေ့ရသဖြင့် မြို့စားကတော်ကြီး လွှတ် လိုက်သော အစေတော်မိန်းမတစ်ဦးလည်း ရောက်လာကာ တံခါးကို တဒေါက်ဒေါက်ခေါက်လျက် ရှိသည်။

နာလာရှာသည် အိပ်မွေ့ချခံရရာမှ နိုးလာသကဲ့သို့ ရုတ်ခနဲထကာ တဲပြင်သို့ ထွက်လာခဲ့၍ မိမိတဲသို့ ရောက် လျှင် အိပ်ရာပေါ်တွင် လှဲချကာ ငိုရှိုက်လျက် ရှိ လေ သတည်း။

ထိုအချိန်မှစ၍ လမ်းတွင် စခန်းချတိုင်း နာတာရှာ သည် မင်းသားကလေး အင်ဒရေ၏အပါးမှ ပြုစုလိုက်ပါ လာလေသည်။ နာတာရှာ၏ ပြုစုပုံမှာ အံ့သြဖွယ် ကောင်း လောက်အောင် ကျွမ်းကျင်ရကား ဤမျှငယ်ရွယ်သော မိန်းကလေးတစ် ယောက်က ဤမျှရဲဝင့်ကျွမ်းကျင်စွာ ပြုစု တတ်လိမ့်မည်ဟု မိမိ လုံးဝမမျှော်လင့်ကြောင်းဖြင့် ဆရာ ဝန်ကပင် ထုတ်ဖော်ပြောဆိုခြင်း ပြုလေသည်။

အကယ်၍ မင်းသားကလေးအင်ဒရေသည် ခရီး သွားရင်း နာတာ ရှာ၏ရင်ခွင်ထဲတွင် အသက်ပျောက်သွား ပါက (ဆရာဝန်ပြောပုံကို ထောက်သော် ဤအတိုင်း ဖြစ် ဖို့များသည်။) နာတာရှာ၏အခြေအနေမှာ ပို၍ဆိုးလာမည် ကို မိခင်မြို့စားကတော်ကြီး သိသော်လည်း မြို့စားကတော် ကြီးသည် နာတာ ရှာ၏အလိုဆန္ဒအတိုင်း မင်းသားကလေး အင်ဒရေကို ပြုစုစောင့်ရှောက်ခွင့် ပြု ထားရပေသည်။ မည် သို့မျှ မပြောသာတော့ချေ။ နာတာရှာနှင့် မင်းသားကလေး အင်ဒရေတို့မှာ ယခုအချိန်တွင် များစွာရင်းနှီးလျက် ရှိပြီ ဖြစ်ရကား အကယ်၍

မင်းသားကလေးအင်ဒရေ ပြန်လည် ကျန်းမာလာပါက ၎င်းတို့နှစ်ဦး၏ စေ့စပ်ကြောင်းလမ်းခြင်း ကိစ္စမှာ အလိုလို အဆင်ပြေသွားတော့မည်ဟု အားလုံး က တွေးမိကြသော်လည်း ထိုကိစ္စကို မည်သူကမျှ စကားမ ကြချေ။ ကာယကံရှင် နှစ်ဦးကိုယ်တိုင်ကလည်း ထိုကိစ္စ ကို မပြောကြချေ။ ယခုအချိန်တွင် သေမည် လော၊ ရှင် မည်လောဟူသည့် ပြဿနာကြီးကို ကြုံတွေ့ နေရသူမှာ မင်းသား ကလေးအင်ဒရေတစ်ဦးတည်းသာမက ရုရှားနိုင်ငံ ကြီးတစ်နိုင်ငံလုံးပင်ဖြစ်ရာ ထို ပြဿနာကြီးသည် အခြား သော ကိုယ်ရေးကိုယ်တာပြဿနာများကို လွှမ်းခြုံထား လျက် ရှိပေသတည်း။

# အခန်း ၃၃

စက်တင်ဘာလ ၃-ရက်နေ့ နံနက်တွင် ပီယာသည် နေမြင့် မှ အိပ်ရာက နိုး လာလေသည်။ တစ်ခေါင်းလုံးအုံလျက် ရှိကား ယမန်နေ့ညက အဝတ်အစားမလဲ ဘဲ အိပ်ပျော် သွားသည့်အတွက်ကြောင့်လည်း အိပ်ရာထတွင် သက် သောင့် သက်သာမဖြစ်ဘဲ အနေရကျပ်လျက် ရှိ၏။ ယမန် နေ့က မိမိပြုခဲ့သောအပြုအမူ ကို တွေး၍လည်း ရှက်သလိုလို ဖြစ်နေသည်။ ထိုအပြုအမူကား အခြားမဟုတ်။ ပြင်သစ် တပ်ဗိုလ် ရမ်ဗေးနှင့် စကားလက်ဆုံကျခဲ့ခြင်း ဖြစ်လေ သည်။

အချိန်မှာ နံနက်ဆယ့်တစ်ချက်တီးလေပြီ။ သို့ရာ တွင် အပြင်ဘက်၌ကား မှောင်နေဆဲပင်ဖြစ်၏။ ပီယာ သည် အိပ်ရာမှထ၍ မျက်လုံးများကို ပွတ်ကြည့် လိုက် ရာ မနေ့က ဂျီရာဆင်ထားသွားသော ပြောင်းတိုသေနတ် ကို စားပွဲပေါ်တွင် အတိုင်းသားတွေ့ရ၏။ ထိုအခါကျမှ ပီယာသည် မိမိရောက်နေသည့်နေရာနှင့် မိမိ လုပ်ရမည့် အလုပ်ကို ပြန်၍ သတိရလာလေသည်။

"သိပ်တော့ နောက်မကျသေးဘူး ထင်ပါရဲ့။ ဟို ခွေးကောင်တော့ မွန်းလွဲမှ မြို့ထဲဝင်မယ် ထင်တယ်"ဟု ပီယာ တွေးမိသည်။

ပီယာသည် နောက်ထပ်တွေးတောငေးမောခြင်း မပြုတော့ဘဲ လုပ်စရာရှိသည်များကို ချက်ချင်း ထလုပ် သည်။

အဝတ်အစားကို သပ်ရပ်စေပြီးနောက် ပြောင်းတို သေနတ်ကိုယူကာ ထွက်ရန်ဟန်ပြင်လိုက်၏။ ထိုအခါ ကျမှ လမ်းတွင် သေနတ်ကြီးကို ဖြောင်ကိုင်သွား၍ မဖြစ် ကြောင်း သတိရလာသည်။ ဤမျှ ကြီးမားသော ပြောင်းတို သေနတ်ကြီးကို ဝတ်ရုံအင်္ကျီအောက် ဝှက်၍ ယူသွားလျှင် ပင် ဘွားဘွားကြီး ပေါ်နေဦးမည် ဖြစ်၏။ ခါးတွင် ချိတ် ယူသွားဖို့ ထို့ပြင် ချိုင်းကြားတွင် ညှပ်သယူသွားဖို့ဆို သည်ကား ဆိုဖွယ်မရှိတော့ချေ။ ချိုင်းကြားတွင် ညှပ်၍ ထွက်လျှင် ကျည်ကို ထုတ်ထားရမည် ဖြစ်ရာ အရေးရှိမှ ကျည်ထိုးနေရန်လည်း အချိန်မရချေ။ "ကိစ္စမရှိဘူးလေ သေနတ်သုံးလို့ မဖြစ်ရင်လဲ ဓားမြှောင်ပဲ သုံးရတော့မှာပေါ့" ဟု တွေးမိသည်။ သို့ရာတွင် ထိုအကြံအစည်ကို မိမိစတင် စိတ် ကူးခဲ့စဉ်က ၁၈၀၉-ခုနှစ်က ကျောင်းသား၏အဓိက အမှားမှာ နပိုလီယန်ကို ဓားမြှောင်ဖြင့်လုပ်ကြံရန် ကြံစည်ခဲ့ခြင်း ဖြစ်သည်ဟု မိမိကိုယ်တိုင် တစ်ကြိမ်မကတွေးခဲ့ ပြီးဖြစ်သည်ကိုမူ ပီယာ သတိမရတော့ချေ။ မည်သို့ဆို စေ မိမိ၏အဓိကရည်ရွယ်ချက်မှာ ထိုအကြံအစည်ကို လက်တွေ့လုပ်ဆောင်ရေးမဟုတ်တော့ဘဲ စိတ်ကူးထည့် ထားခြင်းသာ ဖြစ်သည်ဟု ယူဆသည့်နှယ် ပီယာသည် ( အစိမ်းရောင်ဓားအိမ်စွပ်ထားသည့် ချွန်ထက်သောဓားမြှောင် တစ်ချောင်းကို ခါးကြားထဲသို့ထိုးထည့်လိုက်သည်။ ထိုဓားမြှောင်ကို သေနတ်ပြောင်းတိုနှင့်အတူ စူခါရက်ဈေးမှ ဝယ်လာခဲ့ခြင်းဖြစ်၏။

ပီယာသည် ဝတ်ရုံအင်္ကျီကြီးပေါ်တွင် ခါးပတ် ပတ်လိုက်ပြီးနောက် ဦးထုပ်ကို ခပ်စိုက်စိုက်ဆောင်းကာ ပြင်သစ်တပ်ဗိုလ် ရမ်ဗေးနှင့် မတွေ့အောင် ရှောင်

ကွင်း လျက် အိမ်အောက်သို့ ခပ်သုတ်သုတ်ဆင်း၍ လမ်းမသို့ ထွက်လာခဲ့သည်။

ပီယာသည် မော်စကိုမြို့ကြီး မီးဟုန်းဟုန်းတောက် လောင်လျက်ရှိခြင်းကို ယမန်နေ့ညနေကတည်းကပင် တွေ့ မြင်ခဲ့သော်လည်း ခပ်အေးအေးပင် သဘောထားခဲ့သည်။ မီးမှာ ညတွင်းချင်း ပျံ့နှံ့လာခဲ့လေပြီ။ မော်စကိုနေရာ အနှံ့အပြားတွင် လောင်ကျွမ်းလျက် ရှိလေပြီ။ ရထားတန်း မှ ဆိုင်များ၊ မော်စကာ ဗာမြစ်တစ်ဖက်ကမ်းမှ အိမ်များ၊ မြို့မဈေးကြီးနှင့် ပိုဗာစကွိုင်ရပ်ကွက်မှ အိမ်များ၊ မြစ်ထဲ ရှိ သစ်ဖောင်များ၊ လှေများနှင့် ဒိုရိုဂိုမိလော့တံတားမှ သစ်ဆိုင်များအားလုံး မှာ မီးဟုန်းဟုန်းတောက်လျက် ရှိ လေပြီ။

ပီယာသည် ပိုဗာစကွိုင်ရပ်ကွက်သို့ ပထမ လာခဲ့" ပြီး ထိုမှ အာရဗတ်ပန်းခြံ အနီးရှိ သျှင်ကိုလေ သုခမ္မာ ဇရပ်သို့ လာခဲ့၏။ ထိုနေရာတွင် အတန်ကြာရပ်၍ န ပို လီယန်ကို လုပ်ကြံရေးဟူသော မိမိ၏အကြံအစည်ကို အကောင်အထည်ဖော် သင့် မဖော်သင့် စဉ်းစားနေသေး သည်။ အနီးရှိ အိမ်ဝင်းများမှာ အခိုင်အလုံ သော့ခတ်ထား ကြ၏။ လမ်းမကြီးများနှင့် လမ်းသွယ်ကလေးများမှာလည်း တိတ်ဆိတ်ခြောက်သွေ့လျက် ရှိ၏။ လေသည် မီးခိုးများ၊ မီးလောင်သောအနံ့များ နှင့် ပြွမ်းလျက်ရှိ၏။ တစ်ခါတစ်ရံ တွင် စိုးရိမ်ထိတ်လန့်သောမျက်နှာထားများနှင့် ရုရှားများ ကို တွေ့ရ၍။ တစ်ခါတစ်ရံ၌လည်း လမ်းမတွင်လျှောက် နေသောပြင် သစ်စစ်သားများကို တွေ့ရ၏။ ၎င်းတို့ကား မြို့တစ်မြို့တွင် တပ်စွဲနေသော စစ်တပ်မှ တပ်သားများ နှင့် မတူဘဲ ရှေ့တန်းစစ်မျက်နှာတစ်ခုတွင် စခန်းချနေ သောစစ်တပ်မှ တပ်သားများနှင့်သာ တူတော့သည်။ လမ်းတွင်တွေ့ သည့် ရုရှား များနှင့် ပြင်သစ်တပ်သားများ အားလုံးကပင် ပီယာကို တအံ့တဩကြည့်သွား ကြ၏။ ရုရှားများက ပီယာကို ကြည့်ကြခြင်းမှာ ၎င်း၏မြင့်မား သော အရပ်အမောင်း၊ တောင့်တင်းကြံ့ခိုင်သော ကိုယ်လုံး ကိုယ်ထည်နှင့် သုန်မှုန်လျက်

ရှိသော မျက်နှာထားကြောင့် သာ မဟုတ်၊ ထိုလူသည် မည်သို့သောအတန်းအစား ထဲ ကပေနည်းဟူ၍ သိလိုသောကြောင့်လည်း ဖြစ်လေသည်။ ပြင်သစ်များက ပီ ယာကို မျက်စိတစ်ဆုံးမျှော်ကြည့်၍ နေကြခြင်းမှာ ပီယာသည် အခြားရုရှားများ ကဲ့သို့ ပြင်သစ် တပ်သားများကို ကြောက်ရွံ့အံ့ဩသောအမူအရာမျိုးဖြင့် ကြည့်ရှု ခြင်း မပြုရုံမျှမက ၎င်းတို့အား အနည်းငယ်မျှ ဂရုစိုက်ဟန်မရှိသောကြောင့် ဖြစ် လေသည်။ အိမ်တစ်အိမ် ရှေ့၌ကား ပြင်သစ်တပ်သားသုံးယောက်တို့သည် ရုရှား လူမျိုးအချို့ကို တစ်စုံတစ်ရာမေးမြန်းလျက်ရှိလေရာ ပီယာ ကို မြင်သည်၌ ရပ် စေ၍ ပြင်သစ်စကား တတ်မတတ် မေးမြန်းကြသည်။

ပီယာသည် ခေါင်းယမ်း၍ ဆက်လက်လျှောက် လာခဲ့၏။ လမ်းသွယ်တစ်ခု၌ အစိမ်းရောင်သုတ်ထားသော ခဲယမ်းမီးကျောက်တင်နောက်တွဲလှည်းတစ်စီးနား တွင် ရပ် နေသော အစောင့်တပ်သားတစ်ဦးသည် ပီယာကို အော် ဟစ်လျက်ရှိ၏။ နောက်ဆုံး၌ အစောင့်တပ်သားက ဒေါသ သံကြီးဖြင့် ထပ်မံအော်ဟစ်ကာ ကျည် တစ်လုံးထိုးသေနတ် ကို ချက်ခနဲမောင်းတင်၍ ပစ်တော့မည်ပြုသည့်အခါကျ တော့မှ ထိုလမ်းတွင်ဖြတ်သန်းသွားလာခွင့်မပြုကြောင်းကို ပီယာ သတိထားမိ တော့သည်။ ပီယာသည် မိမိပတ်ဝန်း ကျင်ကို မြင်လည်း မမြင်၊ ကြားလည်း မ ကြားတော့ချေ။ ၎င်း၏ဆုံးဖြတ်ချက်ကိုသာ စိတ်ကူးဖြင့် အကောင်အထည် ဖော် လျက် ရှိလေသည်။ ယမန်နေ့ညက အတွေ့အကြုံ ကြောင့် အကြံပျက်သွားမည်ကို စိုးရိမ်လျက်ရှိသည်။ သို့ ရာတွင် မည်မျှပင် ၎င်း၏အကြံအစည်ကို အကောင် ( အထည်ဖော်လိုသည်ဖြစ်စေ ပီဃာ့အဖို့ ကံမလိုက်ချေ။ ပီယာသည် လမ်းတွင် တစ်စုံတစ်ရာအနှောင့်အယှက်မရှိ ဘဲ ဖြတ်သန်းလာနိုင်ခဲ့သည့်တိုင်အောင်လည်း ယခုအချိန် ၌ ၎င်း၏အကြံအစည်ကို အကောင်အထည်ဖော်ရန် အချိန် နှောင်းခဲ့ လေပြီ။ အကြောင်းသော်ကား နပိုလီယန်သည် ဒိုရိုဂိုမီလော့ဆင်ခြေဖုံးမှ ကရင်မ လင် နန်းတော်သို့ လာ ခဲ့စဉ် လွန်ခဲ့သည့်လေးနာရီအချိန်ကပင်လျှင် အာရဗတ်

လမ်းကို ဖြတ်သန်းသွားခဲ့ပြီး ဖြစ်ရုံမျှမက ယခုအချိန်၌ ကရင်မလင်နန်းတော် အတွင်းရှိ စာကြည့်ဆောင်ထဲတွင် များစွာ စိတ်လက်မကြည်မသာဖြင့် ထိုင်ရင်း မီး များကို ငြိမ်းသတ်ရေး၊ လုယက်ဖောက်ထွင်းမှုများ မဖြစ်အောင် ကာကွယ်ရေး၊ မြို့သူမြို့သားများကို ငြိမ်ဝပ်ဝေရေးစသည့် ကိစ္စအဝဝနှင့် စပ်လျဉ်း၍ လုပ်ဆောင် ဖွယ်ရှိသည်များကို လုပ်ဆောင်ရန် အမိန့်များကို တိတိကျကျ ထုတ်ပြန် လျက်ရှိ သောကြောင့်ပေတည်း။ သို့ရာတွင် ပီယာသည် ဤအချက်ကို မသိသေးချေ။ မိမိ တွေ့ကြုံရအံ့သော အဖြစ် ' အပျက်ကြီးကိုသာ စဉ်းစားလျက်ရှိရာမှ ယခုကဲ့သို့ နဖူး တွေ့ ဒူးတွေ့ တွေ့ ရမည့်အချိန်တွင် ကြောက်စိတ်ဝင်ကာ ( ကိုယ့်ကိုယ်ကို အထင်သေးလျက်ရှိခြင်းကြောင့် (ခက်ခဲ  ပင်ပန်းခြင်း မရှိသော်လည်း မိမိ၏ပင်ကိုယ်သဘာဝနှင့် မကိုက်ညီသော အလုပ်ကြီးတစ်ခုကို မရှောင်မလွှဲသာ ဆောင်ရွက်နေသူတစ်ဦးကဲ့သို့) အကြီးအကျယ် စိတ်ဆင်း ရဲလျက် ရှိလေသည်။

ပီယာသည် ပတ်ဝန်းကျင်ကို မြင်ခြင်း ကြားခြင်း မရှိသော်လည်း မိမိသွားရ မည့်လမ်းကိုကား အလိုလိုသိ နေကာ တစ်ချက်ကလေးမျှ လမ်းမှားခြင်းမရှိဘဲ ပို ဗာ စကွိုင်ရပ်ကွက်သို့ ရောက်သွားလေသည်။

ပိုဗာစကွိုင်လမ်းနားသို့ရောက်လာသောအခါ မီးခိုး လုံးကြီးများမှာ ထူထပ် သည်ထက် ထူထပ်လာခဲ့လေပြီ။ မီးဟပ်သည့်အရှိန်ကလည်း တဖြည်းဖြည်း ပြင်း၍ လာခဲ့ လေပြီ။ တစ်ခါတစ်ရံတွင် မီးတောက်ကြီးများသည် လျှာ ကြီးများကို လိပ်၍ ထုတ်လိုက်သည့်နှယ် လောင်ကျွမ်းလျက် ရှိသော အိမ်မိုးများအောက်မှ ထွက်လာကြ၏။ ထိုရပ်ကွက် ၌ကား လူတော်တော်များများကိုတွေ့ရပြီး ၎င်းတို့ အားလုံး မှာလည်း အလွန်အမင်းထိတ်လန့် တုန်လှုပ်လျက်ရှိကြ သည်။ ပီယာမှာ မိမိ၏ပတ်ဝန်းကျင်တွင် ထူးခြားသော အခြင်းအရာများ ဖြစ်လျက်ရှိခြင်းကို သိ သော်လည်း တဟုန်း ဟုန်းတောက်လောင်လျက်ရှိသည့် မီးတောက်များအနီးသို့ ရောက်လာသည်ကိုမူ သတိမထားသေးချေ။ သို့ဖြင့် ပိုဗာ စကွိုင် ရပ်ကွက်နှင့်

မင်းသားကြီးဂရူဇင်စကီ၏ ဥယျာဉ် တော်ကြား ကွက်လပ်ပေါ်ရှိ လူသွားလမ်းကလေးအတိုင်း လျှောက်လာခဲ့စဉ် မိမိအနီးမှ မိန်းမတစ်ယောက်၏ ရှိုက် ကြီးတငင်ငိုသံကို ပီယာ ရုတ်တရက် ကြားလိုက်ရ၏။ ပီယာသည် အိပ်မက်မှ လန့်နိုးလာသူကဲ့သို့ ဖြုန်းခနဲ ရပ် ၍ ခေါင်းမော့ကြည့်လိုက်မိသည်။

လူသွားလမ်းဘေးရှိ ဖုန်အလိမ်းလိမ်းကပ်နေသော မြက်တောထဲ၌ ငှက်မွေးအိပ်ရာများ၊ လက်ဖက်ရည်အိုး များ၊ ဘုရားကားများ၊ သေတ္တာများစသည့် အိမ်ထောင် ပစ္စည်းများ စုပုံထားခြင်းကို မြင်ရ၏။ သေတ္တာများအနီး မြေကြီးပေါ်၌ကား ဝတ်စုံအနက်ကိုဝတ်၍ ဦးထုပ်တစ်လုံး ကို ဆောင်းလျက် အသက်ခပ်ရွယ်ရွယ် ပိန်ပိန်ပါးပါး . သွားခေါခေါ မိန်းမတစ်ယောက် ထိုင်လျက်ရှိ၏။ ထိုမိန်းမရွယ်သည် ကိုယ်ကို ထိုမှဤမှ လှုပ်ယမ်း၍ ရွတ်ဆို မြည်တမ်းကာ ရှိုက်ကြီးတငင် ငိုကြွေးလျက် ရှိလေသည်။ ညစ်ပတ်ပေရေသည့် ခပ်တိုတိုဂါဝန်ကလေးများကို ဝတ်  ဆင်ထားသော ဆယ်နှစ်ရွယ်နှင့် တစ်ဆယ့်နှစ်နှစ်ရွယ် ကလေးမလေးနှစ်ယောက်သည် ဖြူရော်ထိတ်လန့်သော မျက်နှာထားများဖြင့် ၎င်းတို့၏မိခင်ကို ငေးကြည့်နေကြ သည်။ အထွေးဆုံးဖြစ်ဟန်ရှိသည့် ခုနစ်နှစ်ရွယ် သူငယ် ကလေးမှာမူ ဝတ်ရုံအကျီင်္ယကလေးကို ဝတ်လျက် ၎င်း၏ ကိုယ်ပိုင်ဟုတ်ဟန် မတူသော ဦးထုပ်ကြီးတစ်လုံးကို ဆောင်းထားကာ ကလေးထိန်းအဘွားကြီး၏ ရင်ထဲတွင် တစာစာငိုကြွေးလျက်ရှိ၏။ ညစ်ပတ်ပေရေသော အခိုင်း အစေ သူငယ်မကလေးတစ်ယောက်သည် ဖိနပ်မျှပင် မပါဘဲ သေတ္တာတစ်လုံးပေါ်တွင် ထိုင်လျက်ရှိရာမှ နီကျင့် ကျင့် ကျစ်ဆံမြီးကြီးကို ဖြေချကာ မီးလောင်ကျွမ်းသွား သောဆံပင်များကို နမ်းကြည့်နေ၏။ ထိုမိန်းမရွယ်၏ ယောကျ်ားမှာ မျက်နှာသေးသေး၊ အရပ်ပုပု၊ ပခုံးဝိုင်းဝိုင်း ဖြစ်၍ အုပ်ချုပ်ရေးအရာရှိဝတ်စုံကို ဝတ်ထား၏။ ၎င်း၏ နှုတ်ခမ်းမွေးမှာ ဝက်အူချောင်းပုံဖြစ်၏။ ဦးထုပ်အောက်မှ ၎င်း၏ဆံပင်များသည် နားထင်ပေါ်သို့ ဝဲကျလျက် ရှိကြ ၏။ ထိုလူသည် တစ်လုံးပေါ် တစ်လုံးဆင့်ထားသော သေတ္တာများ

ကို ရွှေ့လျက်ရှိကာ သေတ္တာအောက်မှ မိန်းမ ဝတ်စုံများကို ဆွဲထုတ်လျက် ရှိသည်။

မိန်းမရွှယ်သည် ပီယာကို မြင်သည့်အခါ၌ ပီယာ ၏ ခြေထောက်အနီးတွင် လှဲချလိုက်ကာ

”မောင်လေး၊ အစ်မကြီးတို့ကို မကယ်နိုင်တော့ ဘူးလားကွယ့်။ ကယ်ကြပါဦး။ ဘယ့်နှယ်လုပ်ကြရမလဲ။ ကယ်ကြပါဦး” မိန်းမရွှယ်သည် ငိုရှိုက်ရင်း ပြောနေ၏။ “အစ်မကြီး သမီးလေး၊ အစ်မကြီးသမီးအငယ်ဆုံးလေး အိမ်ထဲမှာ ကျန်ရစ်ခဲ့ပြီကွယ့်။ မီးထဲမှာ ကျန်ရစ်ခဲ့ပြီကွယ့်။ မကယ်နိုင်တော့ဘူးလား။ အမယ်လေး သမီးရဲ့ ၊ သမီးကို မီးလောင်ဖို့ မေမေ မွေးပေးခဲ့ရသလို ဖြစ်ပါပေါ့လား သမီး လေးရဲ့”

“မေရီကလဲ၊ တော်ပါတော့ကွာ” ယောက်ျားဖြစ်သူ က လှမ်းပြောလိုက်သည်။ ပြောမည့်သာ ပြောရသော် လည်း ၎င်းကိုယ်တိုင် ဖြေဆည်နိုင်ဟန် မရှိချေ။ သူစိမ်း ရှေ့တွင် ယောက်ျားရင့်မကြီးဖြစ်၍ ချုပ်တည်းထားရဟန် ရှိလေသည်။ “မမလက်ထဲမှာ ပါသွားမှာပါ။ ဒီပြင့် ဘယ်မှ မရောက်နိုင်ပါဘူး”

“ရှင်ကတော့ ပြောမှာပေါ့လေ၊ ပြောမှာပေါ့။

မွေးထုတ်ထားရတာမှ မဟုတ်ဘဲကိုး” မိန်းမရွှယ်သည် အငိုတိတ်ကာ ယောက်ျားဘက်သို့ လှည့်၍ ရန်ထောင်၏။ “ကိုယ့်ကလေးတစ်ယောက်လုံး မီးထဲ ပါတာတောင် တုတ် တုတ်မှ မလှုပ်ဘူး၊ ဒီပြင့်အဖေသာဆိုရင် ကိုယ့်ကလေးကို မီးထဲ ဝင်ယူမှာပေါ့၊ ရှင်ဟာ ယောက်ျားလဲ မဟုတ်ဘူး၊ ဖအေလဲ မဟုတ်ဘူး။ လူယုတ်မာ၊ လူယုတ်မာ သိပလား” မိန်းမရွှယ်သည် ယောက်ျားကို ရန်ထောင်၍ အားရဟန်ရှိ သည့်အခါ ပီယာဘက်သို့ လှည့်လိုက်လျက်

”မောင်လေးရယ်၊ မီး မီးလို့အော်တာနဲ့ အစ်မကြီး တို့လဲ ပစ္စည်းကလေးတွေ ရနိုင်သမျှ သိမ်းပြီး ပြေးလာခဲ့ ကြတာပါပဲ။ သိပ်လဲ မယူနိုင်ပါဘူး။ ဘုရားကားတွေနဲ့ အစ်မကြီး အိပ်ရာလိပ်လောက်ပဲ သယ်နိုင်ပြီး ကျန်တာတွေ အကုန်လုံး ထားပစ်ခဲ့ရတာပါပဲ၊ ကလေးတွေကို တစ် ယောက်တစ်လက်ဆွဲပြီး ပြေးခဲ့ကြတာ။ ခုတော့ အစ်မကြီး သမီးလေး မပါတော့ဘူး မောင်လေးရဲ့ ။ မီးထဲမှာ ကျန် ရစ်ခဲ့ပြီ။ ဒီလောက်ဆို အစ်မကြီး သမီးလေး မီးကျွမ်းပြီ မောင်လေးရဲ့။ မကယ်နိုင်တော့ဘူးလား”

“ဘယ်နားမှာ ကျန်ရစ်ခဲ့တာလဲ အစ်မကြီး” ပီယာက မေး၏။

မိန်းမရွယ်သည် ပီယာ၏စကားကို ကြားလိုက်ရ သဖြင့် အားတက်လာပုံရကာ ပီယာ၏ခြေထောက်ကို လှမ်းဖက်လိုက်လျက်

”အမလေး မောင်မင်းကြီးသား ဘုန်းကြီးလို့ သက်ရှည်ပါစေကွယ်။ ဟဲ အနီစကာ၊ သွား လိုက်ပြီးပြ ချည်စမ်း” ဟု အခိုင်းအစေသူငယ်မလေးကို အော်ပြောလိုက်၏။

“ဘယ်မှာလဲ ဘယ်မှာလဲ။ လာ လာ” ပီယာက အလောသုံးဆယ်ဆို၏။

ညစ်ပတ်ပေရေသော အခိုင်းအစေသူငယ်မကလေး သည် သေတ္တာနောက်မှ ထလာကာ ကျစ်ဆံမြီးကို ခွေ လိုက်ပြီးနောက် သက်ပြင်းချလိုက်လျက် လူသွားလမ်း ကလေးတစ်လျှောက် စိုက်စိုက်စိုက်စိုက်နှင့် ရှေ့က ထွက် လေသည်။ ပီယာသည် အချိန်ကြာမြင့်စွာ သတိလစ်နေ ရာမှ သတိရလာသူကဲ့သို့ လှုပ်ရှားလာသည်။ ပီယာသည် ခေါင်းကိုမော့ထားလိုက်မိသည်။ ၎င်း၏မျက်လုံးများသည် တောက်ပဝင်းလက်လာကြသည်။ ထို့နောက် သွက်လက်  သောခြေလှမ်းများဖြင့် အခိုင်းအစေသူငယ်မကလေးနောက် သို့ အမီလိုက်လာကာ ပိုဗာစကွိုင်ရပ်ကွက်ထဲသို့ ဝင်လာ ခဲ့ကြ၏။ လမ်းတစ်လမ်းလုံးမှာ မည်းမှောင်သော မီးခိုး လုံးကြီးများ

ဖုံးအုပ်လျက်ရှိ၍ ထိုမီးခိုးလုံးကြီးများထဲမှ မီးတောက်သည် ရှည်လျားသောလျှာ ကြီးများသဖွယ် ထိုး ထွက်လာကြ၏။ လူအုပ်ကြီးတစ်အုပ်သည် မီးတောက်ကြီး တစ်ခုကို ဝိုင်းအုံကြည့်နေကြသည်။ ပြင်သစ်ဗိုလ်ချုပ် တစ်ယောက်သည် လမ်း လယ်၌ ရပ်ကာ မိမိအနီးတွင် ဝိုင်းအုံနေကြသူများကို တစ်စုံတစ်ရာ ပြောဆိုလျက် ရှိ သည်။ ပီယာနှင့် အခိုင်းအစေသူငယ်မကလေးသည် ပြင်သစ်ဗိုလ်ချုပ်ရပ်နေရာ သို့ တည့်တည့်ကြီးလာခဲ့ကြရာ ပြင်သစ်တပ်သားများက တားထားကြ၏။

"ဒီလမ်းက မသွားရဘူးဗျ" တပ်သားတစ်ယောက် က ဆို၏။

"ဒီလမ်းပဲ ဦးလေး၊ လာ လာ။ လမ်းကြားထဲက ဝင်ရအောင်"

ပီယာသည် သူငယ်မကလေးနောက်သို့ လိုက်လာ ခဲ့၏။ သူငယ်မကလေး သည် လမ်းတစ်လမ်းကို ဖြတ်ကူး ပြီးနောက် လက်ဝဲဘက်လမ်းတစ်လမ်းထဲသို့ ချိုးဝင်လာခဲ့ ပြန်ကာ သုံးအိမ်ကျော်သို့အရောက်တွင် လက်ယာဘက် ဝင်းတစ်ဝင်း ထဲသို့ ဝင်သွား၏။

"ဒီထဲမှာ" သူငယ်မကလေးသည် သစ်သားအိမ် တစ်အိမ်၏ လက်ယာဘက် အဆောင်တစ်ဆောင်ကို ညွှန်ပြ လိုက်သည်။ ထိုအဆောင်မှာ မီးဟုန်းဟုန်းစွဲလျက် ရှိ လေပြီ။ အဆောင်တစ်ခြမ်းမှာ ပြိုကျလျက်ရှိပြီး တစ်ဖက် တစ်ခြမ်းမှာ မီးလောင်လျက် ရှိ၏။ မီးညွှန့်များသည် အိမ်မိုးအောက်မှလည်းကောင်း ပြတင်းပေါက်များမှလည်းကောင်း အန်ထွက်လာကြသည်။

ပီယာသည် အိမ်ဝင်းထဲသို့ရောက်လျှင် ရောက်ချင်း မီးရှိန်ဟပ်သဖြင့် ခေတ္တ မျှ ရပ်နေသည်။

"ဟို ကလေးမ၊ နင်တို့အိမ်က ဘယ်အိမ်လဲ။ ဘယ်အခန်းလဲ" ပီယာက မေး၏။

"အဲဒါပဲ ဦးလေးရဲ့။ ကေတီ၊ ကေတီလေး မရှိ တော့ဘူးထင်တယ် ဦးလေးရဲ့ အဟီးဟီး" သူငယ်မလေးက လက်ယာဘက်အဆောင်ကို ညွှန်ပြရင်း ငိုနေသည်။

ပီယာသည် အဆောင်ဘက်သို့ ပြေးလာခဲ့သည်။

သို့ရာတွင် မီးရှိန်ပြင်းလွန်းသည့်အတွက် တစ်ဖက်မှ ကွေ့ကာ တစ်ခြမ်းကို သာ စတင်စွဲလောင်လျက်ရှိသည့် အိမ်ကြီးတစ်ဆောင်ဆီသို့ ပြေးလာခဲ့ရာ စုပြုံ ဝိုင်းအုံနေ ကြသော ပြင်သစ်တပ်သားများကို တွေ့ရ၏။ အစပထမ ၌ ၎င်းတို့ အကြောင်းကို ပီယာ မသိသေးချေ။ သို့ရာတွင် မိမိမျက်စိရှေ့၌ ပြင်သစ်တပ် သားတစ်ယောက်က ရုရှား တစ်ယောက်ကို ခါးနှောင့်ဖြင့်ရိုက်ကာ သားမွေးအကြို တစ်ထည်ကို ယူနေသောကြောင့် တပ်သားများက လုယူ နေကြောင်းကို ရေးရေး သိမြင်လာသည်။ သို့ရာတွင် ဤ ကိစ္စကို စဉ်းစားနေရန် အချိန်မရချေ။

အိမ်မိုးများ၊ နံရံများ၏ ဂျိုးဂျိုး ဂျွမ်းဂျွမ်းမြည်၍ ပြိုကျသံ၊ မီးတောက်မီးလျှံ ကြီးများ၏ တရှီးရှီး တရှဲရှဲ အော်မြည်သံ၊ လူများ၏ ကြောက်လန့်တကြား အော်ဟစ် သံနှင့်တကွ မည်းနက်ထူထပ်သော အခိုးအလိပ်ကြီးများ ဖြစ်သွားလိုက်၊ မီးပွားများ တဖျတ်ဖျတ်လွင့်၍ မြင့်တက် လာလိုက်ဖြစ်နေသော မီးခိုးလုံးကြီးများ၊ တစ်ခါတစ်ရံ နီရဲလျက် တစ်ခါတစ်ရံ၌လည်း ရွှေငါး အကြေးခွံကဲ့သို့ ဝါကျင့်သော အရောင်တို့တက်လျက်ရှိသော အလျှံညီညီ တောက်သည့်မီးလုံးကြီးများ၊ ပြင်းထန် လှသော မီးရှိန်နှင့် မီးခိုးများစသည်တို့သည် မြင်ရသူတို့အဖို့ တုန်လှုပ်ချောက် ချား စရာကြီး ဖြစ်၏။ ပီယာအဖို့တွင်ကား မီးလောင်ကွင်း ကို မြင်လိုက်ရသည်၌ ခပ် စောစောက မိမိအပေါ် ဖိစီး နှိပ်စက်လျက်ရှိသော နပိုလီယန်အား လုပ်ကြံခြင်း ပြု သင့် မပြုသင့်ဟူသောအတွေးများသည် ပျောက်ကွယ်သွားခဲ့ ကြလေပြီ။ ပီယာ သည် ငယ်ရွယ်နုပျိုလာသည်ဟု ထင် ရ၏။ ဖျတ်လတ်လျင်မြန်လာသည်ဟု ထင် ရ၏။ ပီယာ သည် အိမ်တစ်ဖက်မှကွေ့ကာ လောင်ကျွမ်းခြင်း မရှိသေး သော အိမ်

တစ်ခြမ်းထဲသို့ တစ်ဟုန်ထိုး ပြေးဝင်တော့မည် အပြု၌ ခေါင်းပေါ်မှ အော်သံများကို ကြားလိုက်ရကာ တစ်ပြိုင်တည်းမှာပင် ဂွျတ်ဂွျတ် ဂွျတ်ဂွျတ်ဟု မြည်သံကြီး နှင့် အတူ ချွင်ချွင်မြည်သံ၊ ဝုန်းခနဲ ပြိုကျလာသံကြီးကို အနီးမှ ကြားလိုက်ရလေသည်။

ပီယာသည် မော့ကြည့်လိုက်ရာ အိမ်ကြီးတစ်အိမ် ၏ ပြတင်းဝတွင် ရွှေတိုငွေစများထည့်သည့် ဗီရိုကြီးတစ်လုံး ကို ပစ်ချလိုက်သည့် ပြင်သစ်တပ်သား အချို့ကို မြင်၏။ အောက်မှ ရပ်နေသော တပ်သားများက ထိုဗီရိုကြီးနား  သို့ ပြေး လာကြသည်။

“ဟေ့ ဟိုကောင် ဘာဖြစ်လို့ ဝင်လာတာလဲ” တစ်ယောက်က ပီယာကို မေး၏။

“အိမ်ထဲမှာ ကလေးတစ်ယောက် ကျန်ခဲ့တယ်ဗျ။ မတွေ့ဘူးလား” ပီယာက လည်း အော်၍ မေးလိုက်သည်။

“ဟေ့လူ။ ဘာတွေ လျှောက်ပြောနေတာလဲ။ ဘာ လုပ်ဖို့ လာတာလဲ”ဟု ပြင်သစ်တပ်သားများက ဝိုင်း အော်ကြ၏။ တစ်ယောက်ကမူ ဗီရိုထဲရှိ ရွှေတိုငွေစ များ ကိုယူရန်လာသည်ဟု ထင်မှတ်ကာ ပီယာထံသို့ ထိုးကြိတ် တော့မည့်ဟန်ဖြင့် ပြေးလာ၏။

“ဘာလဲ ကလေးလား” အိမ်ပေါ်မှ ပြင်သစ် တပ်သားတစ်ယောက်က အော်၏။ “ပန်းခြံထဲက ညည်းသံ တစ်သံ ကြားတယ်ဗျ။ ဒီငနဲ သူ့ကလေးကို လိုက် ရှာ ( တာ ထင်ပါရဲ့။ သူ့သားသမီး ကိုယ့်သားသမီး ကိုယ်ချင်း စာကြကွာ”,

”ဘယ်မှာလဲဗျ။ ဘယ်နားမှာလဲ” ပီယာက ( မေး၏။

“ဟိုနားမှာ၊ ဟိုနားမှာ” ပြတင်းဝက ပြင်သစ် ( တပ်သားက အိမ်နောက်ဖေး ပန်းခြံဘက်သို့ လက်ညှိုးထိုး ပြ၏။ “ခဏနေဦးဗျို့။ ကျုပ် ဆင်းလာခဲ့မယ်”

ထိုတပ်သားမှာ မည်းနက်သောမျက်လုံးများရှိ၍ ( ပါးပေါ်တွင် အမှတ်ကြီး တစ်ခုရှိလျက် အင်္ကျီလက်ကို ပင့်ထား၏။ ပြင်သစ်တပ်သားသည် ပြတင်းပေါက်မှ တကယ်ပင် ခုန်ချလိုက်ကာ လက်ခုပ်လက်ဝါးတီး၍ ပီယာ ထံသို့ ပြေးလာပြီး ပန်းခြံဘက်သို့ ခေါ်သွားလေသည်။

"ဟေ့ ရဲဘော်တွေ လာကြကွာ။ မီးရှိန်ပြင်းတယ်" ထိုတပ်သားက အခြား တပ်သားများကို လှမ်းခေါ်လိုက် သည်။

- အိမ်နောက်ဖေးရှိ ကျောက်စရစ်လမ်းကလေးပေါ် သို့ ရောက်သော် ပြင် သစ်တပ်သားသည် ပီယာ၏လက်ကို ဆွဲ၍ ကွက်လပ်ကလေးတစ်ခုရှိ ထိုင်ခုံ ကလေးတစ်ခု အောက်တွင် ထိုင်နေသော ပန်းရောင်အင်္ကျီဝတ်ထားသည့် သုံးနှစ် သမီးကလေးတစ်ယောက်ကို ညွှန်ပြ၏။

"ခင်ဗျားကလေးလေး မဟုတ်လား။ အမယ် သမီး လေးဗျ။ ဟန်ကျလိုက် လေဗျာ။ တွေ့ပြီ မဟုတ်လား။ ကျုပ်တို့အားလုံး လူတွေပဲဗျာ။ ကိုယ်ချင်းစာတရား ထား  ရမှာပေါ့။ ကဲ သွားမယ်ဗျ ကိုဖက်တီး"

ပါးတွင် အမှတ်နှင့် တပ်သားသည် ပီယာကို နာမည်သစ်ပေးပြီးနောက် သူ့ ရဲဘော်များဆီသို့ ထွက် သွားသည်။

ပီယာသည် အသက်ပင်မရှူနိုင်တော့ဘဲ ဝမ်းသာ အားရဖြင့် ကလေးဆီသို့ ပြေးလာခဲ့ကာ ပွေ့ယူမည်ပြု လိုက်သည်။ သို့ရာတွင် သူစိမ်းတစ်ယောက်ကို မြင် လိုက် သည့်အခါ၌ ပိန်ပြီးချည့်နဲ့၍ အမေလို အရုပ်ခပ်ဆိုးဆိုး ကလေးငယ်သည် ငို၍ ထွက်ပြေးလေတော့သည်။ ပီယာ သည်ကလေးကို ပွေ့ယူ၍ ချီလိုက်သည်။ ကလေးငယ်သည် စူးစူးဝါးဝါးအော်ကာ ပီယာလက်ထဲမှ ရုန်းထွက်နေရင်း က ပီ ယာ၏လက်များကို ငုံ့၍ ကိုက်နေသည်။ ပီယာ သည် ညစ်ပတ်ပေရေသော တိရစ္ဆာန်ကလေးတစ်ကောင်ကို ကိုင်လိုက်မိသကဲ့သို့ တွန့်သွားသော်လည်း

ကလေးကို အတင်းပွေ့ချီကာ အိမ်ကြီးရှေ့သို့ ပြေးလာခဲ့၏။ သို့ရာ တွင် လာလမ်း အတိုင်း ပြန်၍ မဖြစ်တော့ပြီ။ အခိုင်းအစေ သူငယ်မကလေးမှာလည်း ထိုနေရာ တွင် မရှိတော့ပြီ။ ပီယာသည် စက်ဆုပ်ခြင်း၊ သနားခြင်းတို့ ရောပြွမ်းလျက် ရှိရင်း က တစ်ကိုယ်လုံးချွေးရွှဲကာ တစာစာငိုလျက်ရှိသော ကလေးငယ်ကို ယုယစွာ ပွေ့ချီလျက် ပန်းခြံထဲသို့ ပြန် လာခဲ့ပြီး ထွက်ပေါက်ရှာလျက် ရှိသည်။

# အခန်း ၃၄

ပီယာသည် ကလေးငယ်ကိုထမ်း၍ အိမ်ဝင်းများ၊ လမ်းကြို လမ်းကြားများ ကို ဖြတ်၍ပြေးခဲ့ရာ နောက်ဆုံး၌ ပိုဗာ စကြိုင်ရပ်ကွက်နှင့် မင်းသားကြီး ဂရုစင်စ ကီ၏ဥယျာဉ်တော် ကြားရှိ ကွက်လပ်ထောင့်သို့ ပြန်ရောက်လာ၏။ အစပထမ တွင် ပီယာသည် ထိုနေရာကို ကောင်းကောင်းမမှတ်မိ သေးချေ။ ထိုကွက်လပ် ကြီး၌ ယခုအခါ လူအုပ်များ၊ ဝန်စည်ပစ္စည်းများဖြင့် ပြည့်နှက်လျက်ရှိလေပြီ။ မီး လွတ် ရာသို့ အိမ်ထောင်ပစ္စည်းများနှင့်တကွ ပြေးလာကြသည့် ရုရှားလူမျိုးများ သာမက ဝတ်စုံအမျိုးမျိုးဝတ်ထားသည့် ပြင်သစ်တပ်သားများကိုလည်း တွေ့ရ၏။ ပီယာကား ၎င်းတို့ကို ဂရုစိုက်မနေနိုင်ချေ။ ကလေးကို အပ်ရန်အတွက် ကလေး၏အိမ်ထောင်စုကိုသာ လိုက်လံရှာဖွေလျက်ရှိ၏။

နောက်ထပ်ကယ်ရန်ရှိသူတို့ကို ကယ်ရဦးမည် မဟုတ်ပါ လော။ ပီဃာ့စိတ် တွင် မိမိအဖို့ လုပ်စရာတွေအများကြီး ကျန်နေသေးသည်ဟု ယူဆကာ ကလေးကို မြန်မြန်ပြန် အပ်ရန်သာ စိတ်စောလျက် ရှိသည်။ ပီယာမှာ မီးရှိန်ဟပ် ခြင်းခံခဲ့ရ သည့်အတွက်ကြောင့် လည်းကောင်း၊ ခြေကုန် သုတ်၍ ပြေးလာခဲ့ရသည့်အတွက် ကြောင့် လည်းကောင်း မျက်နှာနီရဲလျက်ရှိ၏။ နုပျိုလန်းဆန်းခြင်း၊ စိတ်အားထက် သန်ခြင်း၊ သန္နိဋ္ဌာန်စိတ်ခိုင်မာခြင်း စသည်တို့သည်လည်း ကလေးကို သွား၍ကယ်

စဉ်ကထက်ပင် ကြီးမားထက်သန် လာသည်ဟု ထင်ရ၏။ ကလေးငယ်မှာ အငို တိတ်စပြု ကာ သေးငယ်သောလက်ကလေးဖြင့် ပီယာ၏ဝတ်စုံအင်္ကျီ ကြီးကိုဆုပ် ထားရာက ပီယာ၏လက်မောင်းပေါ်တွင် ထိုင် ရင်း တောတွင်းတိရစ္ဆာန်ငယ် ကလေးတစ်ကောင်သဖွယ် ( မိမိ၏ပတ်ဝန်းကျင်ကို မျက်လုံးကလယ်ကလယ်ဖြင့် ကြည့် နေသည်။ တစ်ခါတစ်ရံ၌လည်း ပီယာအား ခပ်ပြုံးပြုံးဖြင့် ကြည့်လျက်ရှိ၏။ ကလေးငယ်၏ဖျော့တော့ပိန်ချုံးသော မျက်နှာကလေးမှာ သနားစဖွယ် အပြစ် ကင်းလျက်ရှိခြင်းကို တွေ့ ရ၏။

ကလေးအဖေနှင့် ကလေးအမေမှာ ခပ်စောစောက နေရာတွင် မရှိကြတော့ ချေ။ ပီယာသည် လူတွေကြားထဲ သို့ တိုးဝှေ့ကာ ခပ်သုတ်သုတ်လျှောက်လာရင်း မျက်နှာ များကို ကြည့်လာသည်။ ထိုအခိုက် အပေါ် အဝတ်အုပ် ၍ချုပ်ထားသည့် သစ်လွင်တောက်ပသော မိုးရေအကျီ၊ ဖိနပ်ရှည်တို့ကို ဝတ်ထားသော အရှေ့တိုင်း သားနှင့်တူ သည့် ခန့်ညားချောမောသည့် အဘိုးကြီးတစ်ဦး၊ အလားတူ အဘွားကြီး တစ်ဦးနှင့် မိန်းမပျိုတစ်ဦးပါသည့် အိမ်ထောင်စု တစ်ခုကို သွားတွေ့၏။ ၎င်းတို့မှာ အာမေးနီးယန်း၊ သို့ မဟုတ် ဂျော်ဂျီယန်လူမျိုးများ ဖြစ်ဟန် ရှိသည်။ မိန်းမပျို မှာ မည်းနက်စိမ်းဖန့်သော လေးကိုင်းသဏ္ဍာန် မျက်ခုံး၊ သေးသွယ်လှပ၍ အထူး ကြည်လင်ဝင်းဝါသော မျက်နှာ တို့နှင့်တကွ မြင်ရသူ ေလောက်အောင် ပြေပြစ် အချိုး အစားကျသော ကိုယ်လုံးတို့ရှိလေရာ ထိုမိန်းမပျိုသည် အရှေ့တိုင်း၏အလှ ကျက်သရေကို တင်းပြည့်ကျပ်ပြည့် ဆောင်လျက်ရှိသော အလှကေရီတစ်ပါးပေ လော ပီယာ စိတ်တွင် ထင်မိ၏။ ကွက်လပ်ကြီးထဲရှိ လူစုများ၊ ပြန့် ကျဲလျက်ရှိ သော အိမ်ထောင်ပစ္စည်းပုံများကြား၌ တောက်ပ  ထိန်လက်သော ဖဲဝတ်စုံကို ဝတ် ထားလျက် ခေါင်းတွင် မရမ်းစေ့ရောင်ပဝါကို ကပိုကရို ရဒ်သိုင်းထားသော ထို မိန်းမပျိုကို ကြည့်ရသည်မှာ နှင်းခဲပြင်ကြီးထဲက လှပ မွှေးကြိုင်သော ပန်းပင် ကလေးတစ်ပင် ထိုးထွက်ပေါက်နေ သည်နှင့်ပင် တူသေး၏။ မိန်းမပျိုသည်

အဘွားကြီးနောက် နားရှိ အလုပ်များပေါ်တွင် ထိုင်လျက်ရှိရာမှ ရှည်လျား သော မျက်တောင်ကော့ကြီးများအောက်မှ ကြီးမားဝန်းစက် သော မျက်လုံးရွဲကြီးများဖြင့် ရှေ့မှ မြေကြီးကို စိုက် ကြည့်နေသည်။ မိန်းမပျိုမှာ မိမိအလှကို သတိထားမိဟန် ရှိ ရုံမျှမက ထိုအလှကြောင့်လည်း စိုးရိမ်ကြောက်လန့်နေဟန် ရှိလေသည်။ ဝင်းဝင်း ဝက်စက်ကြီးပေါ်နေသော ထိုမျက်နှာ သည် ပီယာ၏နှလုံးသားတို့ကို ညှို့ယူလိုက် သကဲ့သို့ ရှိ လေရာ ပီယာသည် ထိုမျက်နှာကိုသာ မကြာခဏ လှည့် ကြည့်နေ မိသည်။ ကွင်းစပ်သို့ ရောက်သည်အထိ ကလေး အမေကို ရှာမတွေ့သောအခါ ပီ ယာသည် ထိုနေရာတွင် ယောင်လည်လည်ဖြစ်နေသည်။

ကလေးတစ်ယောက် တိုးလိုးတွဲလောင်းနှင့် ဖြစ်နေ သည့် ပီယာ၏သဏ္ဌာန် သည် ကွင်းစပ်၌ ထင်းထင်းကြီး ပေါ်နေ၏။ ရုရှားယောကျ်ား မိန်းမတစ်သိုက်သည် ဟု အနီးသို့ ဝိုင်းအုံလာကြသည်။

“လူပျောက်လို့လား နောင်ကြီး။ နောင်ကြီးက သူကောင်းမျိုးထဲက ထင် တယ် ဟုတ်စ။ ကလေးက နောင်ကြီးကလေးလား” တစ်ယောက်တစ်ပေါက် ဝိုင်းအုံ မေးကြ၏။

ပီယာက ကလေးမှာ ဝတ်စုံနက်ဝတ်ထားသည့် မိန်းမတစ် ယောက်၏ကလေးဖြစ်ကြောင်း ခပ်စောစောက ထိုနေရာ၌ ထိုင်နေသော်လည်း ယခုရှာမတွေ့တော့ကြောင်း ဖြင့် ပြောပြ၏။

“ကျွတ် ကျွတ်၊ ဖြစ်မှ ဖြစ်ရလေကွယ်။ အင်ဗာ နေ့ရဲ့ ကလေး ထင်တယ်” ကပ္ပိယတစ်ဦးက ကျောက် ပေါက်မာသက်သက်ဖြင့် မိန်းမတစ်ယောက်ကို လှမ်း ပြော လိုက်သည်။

“ဟုတ် မထင်ပါဘူးတော်။ အင်ဗာမေ့တို့က မနက်ကတည်းကထွက်သွား တာပဲ။ မဟုတ်မှလွဲရော ကျုပ် အထင်တော့ မေရီနီကိုလေဗရာရဲ့ ကလေးလား။ အီ

ဗန် နေ့ရဲ့ ကလေးလား။ တစ်ယောက်ယောက်ရဲ့ ကလေးပဲ”

”ဘယ်က ဟုတ်ရမှာလဲ။ သူက မိန်းမတစ်ယောက် လို့ ဆိုတာပဲ။ မေရီနီကို လေဗနာက မင်းကတော်ပဲ” အခိုင်းအစေနှင့် တူသူတစ်ဦးက ဆို၏။

“ကလေးအမေကို မသိကြဘူးလားဗျာ။ မျက်နှာ ရှည်ရှည်၊ သွားခေါခေါနဲ့” ပီယာက ပြောလိုက်သည်။

“ဟုတ်ပါတယ်တော်။ မေရီနီကိုလေဗနာ ဖြစ်မှာ ပါး ဟောဒီဝံပုလွေတွေ မောင်းထုတ်လို့ မင်းသားကြီးရဲ့ ဥယျာဉ်တော်ထဲ ပြောင်းသွားကြသတော့” မိန်းမကြီးက ပြင်သစ်တပ်သားများကို လက်ညှိုးထိုး၍ ပြောလိုက်သည်။

“ကျွတ်၊ ကျွတ်။ ဖြစ်မှ ဖြစ်ရလေကွယ်” ကပ္ပိယ ကြီးက ညည်းလိုက်သည်။

“သွား သွား ဟောဒီလမ်းအတိုင်း လိုက်သွား။ ဟုတ်ပါတယ်။ မေရီနီကိုလေဗနာရဲ့ ကလေးလေးပါ။ ခပ် စောစောက ကလေးပျောက်လို့ဆိုပြီး ငိုနေတာ တွေ့ သား ပဲ။ သူမှ သူအစ်ပဲ။ သွား သွား ဟောဒီလမ်းအတိုင်း လိုက်သွား” မိန်းမကြီးက ဆိုသည်။

သို့ရာတွင် ပီယာမှာ ကျောက်ပေါက်မာသက် သက်နှင့် မိန်းမကြီး၏စကားကို မကြားချေ။ ပြင်သစ်တပ် သားနှစ်ယောက်သည် ခပ်စောစောက ပီယာတွေ့ခဲ့သော အာမေးနီးယန်း အိမ်ထောင်စုဆီသို့ ထွက်သွားသည်ကို မြင်လိုက်ရသည်။ ပီယာသည် ထိုဘက်သို့ အချိန်အတော် ကြာမျှ လှမ်းကြည့်နေသည်။ တပ်သားတစ်ယောက်မှာ ခပ်ညှက်ညှက် ခပ်သွက်သွက်ဖြစ်လျက် အပြာရောင်ဝတ်ရုံ အင်္ကျီကို ဝတ်ထားကာ ခါးတွင် ကြိုးတစ်ချောင်းစည်း ထား၏။ ခေါင်းတွင် အဝတ်ဦးထုပ်ကို ဆောင်းထား၍ ခြေထောက်၌မူ ဖိနပ်စီးထားခြင်း မရှိချေ။ အခြားတစ် ယောက်ကား အရပ်ရှည်ရှည်၊ ပိန်ပိန်ပါးပါး၊ ပခုံးဝိုင်းဝိုင်း နှင့်ဖြစ်၍ ၎င်း၏ဆံပင်မှာ ခပ်နီနီ

ဖြစ်၏။ ပထမလူက သွက်သလောက် ၎င်းမှာ နှေးကွေးလေးကန်လှ၏။ ထိုသူ သည် မိန်းမဝတ်စုံကြီးကို ခြုံထားပြီး ဘောင်းဘီပြာဝတ် ကာ စုတ်ပြတ်နေသော စစ်ဖိနပ်ရှည်ကြီးကို စီးထား၏။ ဖိနပ်မပါသည့် ခပ်ညှက်ညှက်တပ်သားသည် အာမေးနီး ယန်း အိမ်ထောင်စုအနီးသို့ ကပ်ကာ တစ်စုံတစ်ရာပြော ဆိုပြီးနောက် အဘိုးအိုကြီး၏ခြေထောက်ကို လှမ်းဆွဲလိုက် ပြီး ဖိနပ်ရှည်ကြီးကို ဆွဲချွတ်နေသည်။ အရပ်ရှည်ရှည် တပ်သားမှာကြောရှင်းလှပသည့် မိန်းမပျိုရှေ့တွင် အိတ်ထဲ လက်နှိုက်၍ ရပ်ကြည့်နေသည်။ . "ရော့၊ ကလေးကို ယူထားလိုက်ပြီ။ သူ့အမေကို ရှာပေးလိုက်ကြစမ်းဗျာ" ပီယာသည် ကလေးငယ်ကို မြေကြီးပေါ်သို့ ချလိုက်ပြီး ပြင်သစ်နှစ်ယောက်နှင့် မိန်းမ ပျိုဆီသို့ လှမ်းကြည့်နေ၏။ ကလေးငယ်မှာ စူးစူးဝါးဝါး ငိုလျက် ရှိလေသည်။

အာမေးနီးယန်း အဘိုးအိုကြီး၏ခြေထောက်တွင် ဖိနပ်မရှိတော့ချေ။ အဘိုးအိုကြီး၏ဖိနပ်သည် ခပ်ညှက် ညှက် ပြင်သစ်တပ်သားလက်တွင် ရောက်နေလေပြီ။ ပြင်သစ် တပ်သားသည် ဖိနပ်နှစ်ဖက်ကို တစ်ဖက်နှင့် တစ်ဖက် ရိုက်ခါချနေသည်။ အဘိုးအိုကြီးကား ငိုနေရာမှ တစ်စုံတစ်ရာကို ပြောလျက် ရှိ၏။ သို့ရာတွင် ပီယာ၏ မျက်လုံးများသည် ထိုအဘိုးကြီးထံတွင် ခေတ္တမျှသာကြာပြီး တခြား သို့ရောက်သွားကြသည်။ ပီယာမြင်ရသောရှုခင်းမှာ အရပ်ရှည်ရှည် တပ်သားက မိန်းမပျိုအနီးသို့ ကပ်လာ ကာ မိန်းမ ပျို၏ကုပ်ကို လှမ်းဆွဲနေသည့် မြင်ကွင်းပေ တည်း။

မိန်းမပျိုသည် ယခင်ကကဲ့သို့ပင် မလှုပ်မယှက် ထိုင်လျက် ရှိ၏။ ပြင်သစ်တပ်သားကို မမြင်သကဲ့သို့ လည်းကောင်း၊ ပြင်သစ်တပ်သား၏ အပြုအမူကို မသိသကဲ့ သို့ လည်းကောင်း ရှည်လျားသော မျက်တောင်ကော့ကြီး များကိုသာ အောက်သို့ ချထားသည်။

ပီယာသည် ၎င်းတို့ထံသို့ ပြေးလာခဲ့ရာ နှစ်လှမ်း သုံးလှမ်းလောက် လှမ်းလိုက်မိစဉ်မှာပင် အရပ်ရှည်ရှည် ပြင်သစ်တပ်သားက မိန်းမပျို၏လည်တွင် ဝတ်ဆင်ထား သောဘယက်ကို ဆွဲဖြုတ်လိုက်ခြင်းကို မြင်လိုက်ရသည်။ မိန်းမပျိုသည် မိမိ၏လည်ပင်းကို လက်နှစ်ဖက်ဖြင့် သိုင်း၍ ဖက်ထားရင်း အော်နေသည်။

"ဟေ့ ဘာလုပ်နေတာလဲ လွှတ်လိုက်" ပီယာက တပ်သားကို ကုပ်မှဆွဲဖယ်လိုက်ရင်း အော်လိုက်၏။ တပ်သားသည် မြေကြီးပေါ်တွင် ခွေကျသွားရာမှ ထ၍ ထွက်ပြေးလေတော့သည်။ သို့ရာတွင် ခပ်သွက်သွက် တပ်သားကမူ လက်တွင်ကိုင်ထားသည့် ဖိနပ်ရှည်ကြီးကို လွှတ်ချလိုက်ကာ ဓားကို ချွတ်လိုက်ပြီး ခုတ်တော့မည့် ဟန် ပြင်လိုက်သည်။

"မင်းက ဘာကောင်မို့လို့ ဝင်ရှုပ်တာလဲ" ပီယာမှာ ထိုအချိန်တွင် အကြီးအကျယ် ဒေါသ ထွက်လျက်ရှိပြီ ဖြစ်ရကား မည်သည့်အရာကိုမျှ အမှတ် မရတော့ချေ။ ခွန်အားဗလသည်လည်း ဆယ်ဆမျှတိုးလာ သည် ထင်လိုက်ရ၏။ ပီယာသည် ဓားကို ဓားအိမ်မှ ဆွဲ ချွတ်လျက်ရှိသော ခပ်ညှက်ညှက်တပ်သားကို ခုန်အုပ် လိုက်ကာ ကိုယ်လုံးဖြင့် ရိုက်ချလိုက်ပြီးနောက် လဲကျသွား သည့်အခါကျမှ လက်သီးဖြင့် အချက်ပေါင်းများစွာ ထိုး နေသည်။ ဘေးမှ ပရိသတ်က ပီယာကို ဝိုင်း၍ဩဘာ ပေးကြသည်။ သို့ရာတွင် ချက်ချင်းပင် ပြင်သစ်မြင်းစီး ကင်းလှည့်တပ်သားများသည် လေးဘက်လေးတန်မှ ဝိုင်း လာကြလေသည်။ မြင်းစီးကင်းလှည့်တပ်သားများသည် ပီယာထံသို့ လမ်းဒုန်းစီး၍ လာကြပြီး အခြားတပ်သားများက ဝိုင်းထားကြ၏။ ထို့နောက်ကား ပီယာသည် ဘာကိုမျှ မသိတော့ချေ။ မိမိက လူတစ်ယောက်ကို ရိုက် လိုက်၍ မိမိလည်း အရိုက်ခံလိုက်ရပြီးနောက် လက်တွင် လက်ထိတ်ခတ်ခံလိုက်ရခြင်းကိုသာ သိတော့သည်။ မိမိ အနီးတွင်

လည်း ပြင်သစ်တပ်သားများသည် ဝိုင်းအုံကာ အိတ်ထဲသို့ ရှာဖွေနေကြသည်ကို တွေ့ရ၏။

' “ဗိုလ်လေး၊ ခားမြှောင်တွေ တွေ့တယ်ခင်ဗျ” ပီယာသည် ထိုစကားကို ပထမဆုံးကြားလိုက်ရ၏။

“ဘာ၊ လက်နက်တွေ့တယ်။ ဟုတ်လား”တပ်ဗိုလ် က မေး၍ ပီယာနှင့် အတူ အဖမ်းခံထားရသော ခပ်ညှက် ညှက်တပ်သားဘက်သို့ လှည့်ကြည့်လိုက်သည်။ “ဟေ့ ရဲဘော်၊ မင်းကိစ္စကို စစ်ခုံရုံးကျမှ ရှင်း၊ ဟုတ်လား။ ခုတော့ လိုက်ခဲ့”

တပ်ဗိုလ်သည် ပီယာဘက်သို့ လှည့်လိုက်ပြန် သည်။

“ခင်ဗျား ပြင်သစ်လို တတ်သလား”

ပီယာသည် နီရဲလျက်ရှိသော မျက်လုံးကြီးများ ဖြင့် ပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်၏။ ဘာမျှ မဖြေ။ ပီယာ၏မျက်နှာမှာ ခက်ထန်လျက်ရှိခြင်းကြောင့် တပ်ဗိုလ် သည် တပ်ထိန်းလေးယောက်ကို လေသံဖြင့် တစ်စုံတစ် ရာ ပြောလိုက်သည်တွင် တပ်ထိန်း လေးယောက်သည် ပီယာကို တစ်ဖက်နှစ်ယောက်စီ ညှပ်ထားလိုက်ကြ၏။

“ဟေ့လူ၊ ပြင်သစ်လို တတ်သလားလို့ မေးနေတာ မကြားဘူးလား” တပ်ဗိုလ်သည် ပီယာအနီးသို့ မကပ်ရဲ တော့ဘဲ ခပ်လှမ်းလှမ်းမှ မေးနေ၏။ “ဟေ့ စကားပြန် ခေါ်လိုက်စမ်းဗျာ”

ရှုရှားအရပ်ဝတ်အရပ်ဝတ်စုံကို ဝတ်ထားသည့် လူပုတစ်ယောက်သည် တန်းစီရပ်နေသော မြင်းစီးကင်း လှည့် တပ်သားများကြားထဲမှ ထွက်လာ၏။ အဝတ်အစား နှင့်စကားပြောပုံကို ထောက်ခြင်းအားဖြင့် ထိုလူမှာ မော်စကို မြို့ထဲရှိ ဆိုင်တစ်ဆိုင်မှ ပြင်သဖ်ကုန်သည်တစ်ဦးဖြစ်ဟန် တူလေသည်။

“ကြည့်ရတာ လက်လုပ်လက်စားထဲက ဟုတ်ပုံ မရဘူး ဗိုလ်လေး” စကားပြန်က ပီယာကို အကဲခတ်ရင်း ပြောလိုက်သည်။

“ကျုပ်ကတော့ မီးတုတ်လိုက်ပစ်နေတဲ့ကောင် တွေ ထင်တာပဲ။ ခင်ဗျားလူကို မေးကြည့်စမ်းပါဦး” တပ်ဗိုလ်က ပြောလိုက်သည်။

“ခင်ဗျားနာမည် ဘယ်သူလဲ ကောင်းကောင်း ဖြေဗျာ” စကားပြန်က ရုရှားစကားမပိုတပီဖြင့် မေး လိုက်၏။

“ကျုပ်ဘယ်သူလဲဆိုတာ ပြောနေဖို့ မလိုပါဘူး။ ကျုပ် ခင်ဗျားတို့ လက်ထဲက အကျဉ်းသားပဲ။ ခေါ်သွား ကြပေါ့” ပီယာက ပြင်သစ်လို ပြန်ပြောလိုက်၏။

“အလုံ တယ်လာတဲ့လူပဲ။ ကဲ ကဲ ကွဗျား။ ကွ” တပ်ဗိုလ်က မျက်မှောင်ကြီး ကုတ်၍ ပြော၏။

လူအုပ်ကြီးမှာ မြင်းစီးကင်းလှည့်တပ်သားများ အနီးတွင် ဝိုင်းအုံလျက်ရှိ၏။ ပီယာ၏အနီးတွင်ကား ကျောက်ပေါက်မာသက်သက်နှင့် မိန်းမကြီးသည် ပီယာ ချီလာသောကလေးငယ်ကို ပိုက်၍ ရပ်နေ၏။ ပီယာကို အစောင့်အကြပ်များဖြင့် ခေါ်မည်ပြုစဉ် မိန်းမကြီးသည် အနားသို့ တိုးလာကာ

”သူငယ်လေး၊ သူငယ်လေးကို ဘယ်ခေါ်သွားကြ မလို့တဲ့လဲကွယ့် ဟင်။ ဒီကလေးလေးကော ဘယ့်နှယ်လုပ် မလဲ။ တကယ်လို့ ကလေးအမေနဲ့ မတွေ့ရင်ကော”

”ဒီမိန်းမကြီးက ဘာတဲ့လဲ” တပ်ဗိုလ်က ပီယာကို ပေးလိုက်သည်။

ပီယာသည် အရက်မူးသကဲ့သို့ ချွေးတွေကျလာ သည်။ မိမိကယ်ခဲ့သော ကလေးငယ်ကို မြင်လိုက်ရသည် နှင့် ပေါ့ပါးလန်းဆတ်သွားသည်။

“ဘာမှ မဟုတ်ပါဘူး။ မီးထဲက ကျုပ်ကယ်လာခဲ့ တဲ့ ကျုပ်သမီးလေးကို ကျုပ်ဆီ လာပြတာပါ။ က် သွား ပြီ သမီးလေး”

ပီယာ ရည်ရွယ်ချက်မရှိဘဲ မုသားသုံးလိုက်မိသည်။ ထို့နောက်၌ကား ခေါင်း မော့ရင်ကော့လျက် ပြင်သစ်တပ် များကြားထဲတွင် ခပ်ကြွားကြွားလိုက်ပါသွားလေ သည်။

ပြင်သစ်မြင်းစီး ကင်းလှည့်တပ်သားများမှာ မော် စကို မြို့တွင်းတွင် ဖြစ်ပေါ် လျက်ရှိသော လုယက်ဖောက် ထွင်းမှုများကို တားဆီးရန်၊ အထူးသဖြင့် မီးတုတ် တင်သူ များကို ဖမ်းဆီးရန်၊ (ပြင်သစ်အထက်တန်း စစ်အရာရှိ များက မော်စကိုမြို့ မီးလောင်ခြင်းမှာ လူယုတ်မာများက မီးတင်ရှို့ကြသောကြောင့် ဖြစ်သည်ဟု ယူဆ ကြသည်။) ပြင်သစ်ဗိုလ်ချုပ် ဂျူရောရှနေး၏ အမိန့်အရ မြို့တွင်းတွင် ကင်းလှည့် နေကြသူများ ဖြစ်လေသည်။ ထိုနေရာမှ ငါးပြ ခန့်အကွာသို့ ရောက်သောအခါ ပြင် သစ်ကင်းများသည် မသင်္ကာသူ ရုရှားငါးယောက်ကို ထပ်၍ဖမ်းကြပြန်သည်။ ၎င်း တို့မှာ ကုန်စုံဆိုင်ရှင်တဦး၊ စာသင်သားနှစ်ဦး၊ လယ်သမားတဝ်ဦးနှင့် အခိုင်းအစေ တစ်ဦးတို့ ဖြစ်၏။ လုယက်ဖောက်ထွင်းသူအချို့ကိုလည်း ဖမ်းဆီးခဲ့ကြသည်။

သို့ရာတွင် မသင်္ကာစရာကောင်းသူများအားလုံးအနက် ပီယာကိုမူ မသင်္ကာ စရာအကောင်းဆုံး လူတစ်ဦးအဖြစ် ပြင်သ်အာဏာပိုင်များက ယူဆကြ၏။ ထိုည၌ ဇူဘော ခံတပ်ထဲရှိ အချုပ်ခန်းအဖြစ် အသုံးပြုထားသော အိမ်ကြီး တစ်အိမ်ထဲသို့ အကျဉ်းသားများကို ခေါ်ဆောင်လာသည့် အခါတွင် ပီယာကို တစ်ယောက်တည်း ခွဲချုပ်ကာ အစောင့် အကြပ် ထူထပ်စွာ ချထားလိုက်ကြလေသတည်း။

# အပိုင်း ၁၂

## အခန်း ၁

ထိုအချိန်တွင် နိုင်ငံခြားရေးဝန်ကြီး ရွှန်ယန်းဆက်၏ အုပ်စု၊ ပြင်သစ်လူမျိုး အုပ်စု၊ ရွှေနန်းရှင်မယ်တော် မာရီယာဖီဒိုရို ဗနာ၏အုပ်စု၊ အိမ်ရှေ့စံကိုယ်တော်ကြီး ဇာရီဗစ်၏အုပ်စု စသော ပီတာစဘတ်ရွှေမြို့တော် အထက်တန်းလွှာ အသိုင်းအဝိုင်းအတွင်း၌ ရှုပ်ထွေးသော တိုက်ပွဲကြီးတစ်ပွဲသည် ခါတိုင်းထက် ပြင်းထန်သော အရှိန်အဟုန်ဖြင့် ပေါ်ပေါက် လျက်ရှိကာ ခါတိုင်းကဲ့သို့ပင် နန်းတွင်းကပ်ပါးတို့၏ ပွက်လောရိုက်မှုသော အတင်းအဖျင်းများကြားတွင် နစ်မြုပ် ပျောက်ကွယ်လျက် ရှိလေသည်။ သို့ရာတွင် တကယ့်အနှစ် သာရကို ဂရုမပြုဘဲ အပေါ်ယံ အရိပ်အယောင်များကိုသာ အသားပေးလေ့ရှိသည့် အေးအေးလူလူ ဇိမ်ခံလျက်ရှိသော ပီတာစဘတ်ရွှေမြို့တော်၏ ဘဝကား ခါတိုင်းကဲ့သို့ပင် ရှိလျက် ရှုရှားပြည်သူတို့ အန္တရာယ်ကြီးနှင့် ကြုံတွေ့ကာ ခက်ခဲပင်ပန်းလှသော အခြေအနေမျိုးတွင် ဆိုက်ရောက်နေ ရသည်ဆိုခြင်းမှာ (ကြိုးစားအားထုတ်၍ စဉ်းစားခြင်းမပြု လျှင်) ယုံနိုင်ဖွယ်မရှိအောင် ဖြစ်လျက်ရှိလေသည်။ အလွန် မြင့်မားသည့် အထက်တန်း အသိုင်းအဝိုင်းအတွင်းတွင်သာ တကယ်ကြုံတွေ့လျက်ရှိသည့် အခက်အခဲများကို နှလုံးသွင်း ရန် ကြိုးပမ်းအားထုတ်ခြင်း ပြုကြလေသည်။ ဤသို့သော ဗရုတ်ဗရက် ကာလကြီးတွင် မိဖုရားနှစ်ပါး တောင်တစ်မျိုး မြောက်တစ်ဖုံပြုလျက်ရှိပုံနှင့် စပ်လျဉ်း၍လည်း တီးတိုး ပြောဆိုလျက် ရှိကြလေသည်။ (အလက်ဇန်းဒရား၏ မယ်တော်) မိဖုရားခေါင်ကြီး မာရီယာသည် ၎င်းကိုယ်တိုင် နာယကအဖြစ်

ဆောင်ရွက်လျက်ရှိသော လူမှုရေးနှင့် ပညာ ရေးအဖွဲ့အစည်းများ၏ သက်သာချောင်ချိရေးကို စိတ်ဝင် စားကာ ထိုအဖွဲ့ အစည်းများအားလုံးက ကာဇန်မြို့သို့ ပြောင်းရွှေ့ရမည်ဟု အမိန့်ထုတ်လိုက်ကာ ထိုအဖွဲ့အစည်း များပိုင် ပစ္စည်းများကို ထုပ်ပိုးပြင်ဆင်ပြီးလေပြီ။ သို့ရာတွင် (အလက်ဇန်းဒရားဘုရင်၏မိဖုရား) အယ်လီဇဘက် မိဖုရား ကမူ မည်သည့် ညွှန်ကြားချက်မျိုးကို ပေးလိုတော်မူပါသနည်းဟု လျှောက်တင်လာသည့်အခါ၌ နိုင်ငံတော်အစိုးရ အဆောက်အအုံများမှာ ဘုရင်မင်းမြတ်၏ ကိစ္စများဖြစ် သဖြင့် ၎င်းနှင့် ပတ်သက်၍ မည်သည့် ညွှန်ကြားချက်ကိုမျှ မပေးနိုင်ကြောင်း၊ သို့ရာတွင် မိမိတစ်ဦးတည်းအနေဖြင့် ဆိုရလျှင် မိမိသည် ပီတာစဘတ်ရွှေမြို့တော်မှ နောက်ဆုံး ထွက်ခွာမည့်သူဖြစ်ကြောင်း ရုရှားလူမျိုးတို့၏ မျိုးချစ်စိတ် ဓာတ်အပြည့်ဖြင့် ပြန်ကြားတော်မူလိုက်လေသည်။

ဘိုရိုဒီနိုတိုက်ပွဲဖြစ်ပွားသည့် ဩဂုတ်လ ၂၆-ရက် နေ့တွင်ကား မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ၏ စံအိမ်၌ ညနေခင်းဧည့်ခံပွဲသဘင်တစ်ရပ် ကျင်းပလျက် ရှိ၏။ ထိုဧည့်ခံပွဲသဘင်၏ အဓိက အစီအစဉ်မှာ ရှင်ဆာ ဂျီးယပ်စ်၏ ဆင်းတုတော်တစ်ဆူ ဘုရင်မင်းမြတ်ထံသို့ ပို့တော်မူရာတွင် ပေးပို့လိုက်သည့် သာသနာပိုင်ဆရာတော် ၏ ဩဝါဒစာတမ်းကို ဖတ်ကြားရန် ဖြစ်လေသည်။ ထိုဩဝါဒစာတမ်းမှာ သာသနာရေးပုဂ္ဂိုလ်များက မျိုးချစ်စိတ် ကို ဖော်ပြရာတွင် စံနမူနာတစ်ရပ်အဖြစ် ယူဆကြ၏။ စာရွတ်ရာတွင် နာမည်ကြီးလှသော မင်းသားကြီး ဗာစီလီက ထိုဩဝါဒစာရမ်းကို ဖတ်ကြားမည် ဖြစ်လေသည်။ (မင်းသားကြီး ဗာစီလီသည် မယ်တော်မိဖုရားကြီး၏ထံ ၌လည်း စာတော်ဖတ်အဖြစ် ဆောင်ရွက်လေ့ရှိ၏။) စာ သားများနှင့် အဓိပ္ပာယ်ကို လုံးဝ ဖမ်းယူ၍ မရလောက် အောင် လျှာလိပ်သံပါပါဖြင့် ဖော်တတ်ခြင်း၊ သံရှည်တစ် လှည့်၊ သံတိုတစ်လှည့်ဖြင့် နိမ့်တုံမြင့်တုံဖြစ်အောင် အသံ အောကြီးဖြင့် ဖတ်တတ်ခြင်း၊ ဤသို့ဖြင့် စကားတစ်လုံး

ကို ဂရုသံဖြင့် နင်းထွက်၍ အခြားတစ်လုံးကို လဟုသံ ဖြင့် ဖတ်တတ်ခြင်း စသည် တို့သည် မင်းသားကြီးဗာစီလီ စာဖတ်ကောင်းခြင်း၏ အင်္ဂါရပ်များ ပေလောဟု ထင်ရ ၏။ မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ၏ ညှော့ခံပွဲ သဘင်တွင် ပြုလုပ် သည့်ကိစ္စမှန်လျှင် တစ်စုံတစ်ရာ ဝိသေ သထူးရမြဲဖြစ်သည့်အတိုင်း မင်းသားကြီး ဗာစီလီက သာ သနာပိုင်၏ ဩဝါဒစာတမ်းကို ဖတ်ကြားခြင်းမှာလည်း အရေးကြီး သော နိုင်ငံရေးကိစ္စကြီးတစ်ရပ်ဖြစ်လျက် ရှိ ပေသည်။ ထိုနေ့ညနေက မှန်နန်း အပျိုတော်ကြီးသည် အရေးကြီးသောပုဂ္ဂိုလ်ကြီးများကို ဖိတ်ကြားထားကာ ပြင်ဘခ် ဇာတ်ပွဲသို့ သွားရောက်ကြည့်ရှုခြင်းအတွက် အရှက် ရစေအံ့။ ၎င်းတို့၏ ဇာတိသွေး ဇာတိမာန်ကို ထက်သန်လာ စေအံ့ဟု အားခဲလျက် ရှိလေသည်။ မင်းပရိသတ်များ မှာ အတော်စုံလင်လျက် ရှိလေပြီ။ သို့ရာတွင် မှန်နန်းအပျိုတော် ကြီး အင်နာပါဗ လိုနာမှာမူ ၎င်း၏ မင်းပွဲသဘင်တွင် မျှော်လင့်ထားသူအားလုံး မရောက်လာသေး သည့်အတွက် ဩဝါဒစာတမ်း ဖတ်ကြားသည့် အစီအစဉ်ကို စတင်ခြင်း မပြုသေး ချေ။ အာလာပသလ္လာပပြောဆိုခြင်းတည်း ဟူ သော စပရင်ကြီးကို စတင်ဖြေလွှတ် လျက် ရှိလေသတည်း။

ထိုအချိန်က ပီတာစဘတ်ရွှေမြို့တော်အဖို့ သတင်း ထူးကြီးတစ်ရပ်မှာ မြို့စားကတော်လေး ဟယ်လင်တစ် ယောက် မကျန်းမမာဖြစ်လျက် ရှိသည်ဆို သည့် သတင်း ကြီးပင် ဖြစ်လေသည်။ မြို့စားကတော်လေး ဟယ်လင် မှာ လွန်ခဲ့ သည့်ရက် များမကြာမီကလေးကပင်လျှင် ရုတ် တရက် နာမကျန်းဖြစ်ကာ အဆင် အယင်တစ်ပါးသဖွယ် သူမပါလျှင် မဖြစ်သည့် မင်းသဘင်များသို့ မတက်ရောက် နိုင်ခဲ့သည်မှာ များခဲ့လေပြီ။ မည်သူ့ကိုမျှ လက်ခံတွေ့ဆုံ ခြင်းလည်း မပြုတော့ဟု လည်းကောင်း၊ မိမိအား အမြဲ တမ်း ကုသလျက်ရှိသည့် ပီတာစဘတ်မှ နာမည် ကျော် သမားတော်များအစား ဆန်းသစ်၍ ထူးခြားသော ကုထုံး များဖြင့် ကုသ

လျက် ရှိသည့် အီတလီသမားတော်အချို့ကို သာ မိမိကိုယ်ကို အပ်နှင်းထားသည် ဟု လည်းကောင်း ပြောဆိုလျက် ရှိကြလေသည်။

စွဲလမ်းနှစ်သက်ဖွယ်ကောင်းသည့် မြို့စားကတော် လေး၏ ရောဂါမှာ တစ်ချိန်တည်းတွင် လင်နှစ်ယောက်ယူ ထားခြင်းကြောင့် မအီမသာဖြစ်ရာမှ ပေါ်ပေါက်လာခြင်း ဖြစ်ကြောင်းကို လည်းကောင်း၊ အီတလီသမားတော်၏ ကုထုံးမှာ ထိုမအီမသာဖြစ်မှုကို ကုစားပေးခြင်း ဖြစ်ကြောင်း ကို လည်းကောင်း အားလုံးက ကောင်းစွာ သိရှိနားလည် ကြ၏။ သို့ရာတွင် မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ ၏ ရှေ့မှောက်တွင်ကား ထိုအချက်ကို မည်သူမျှ တွေးတော ခြင်း မပြုဝံ့ကြ ရုံမျှမက သိသည်ဟုပင် မထင်မခံဝံ့ကြချေ။

"မြို့စားကတော်လေးခမျာ အတော်နာမကျန်းဖြစ် နေရှာတယ်လို့ ပြောတယ်။ သမားတော်တွေ အဆိုကတော့ နှလုံးရောဂါလို့ ဆိုတာပဲ"

"နှလုံးရောဂါတဲ့လား။ ကျွတ် ကျွတ်။ ဖြစ်မှ ဖြစ်ရလေတယ်ဗျာ။ တော်တော်ဆိုးတဲ့ရောဂါပဲ"

"လင်နှစ်ယောက်လဲ ပြန်ပြီး သင့်မြတ်သွားကြပြီ တဲ့။ နှလုံးရောဂါရဲ့ ကျေးဇူးပေါ့လေ"

၎င်းတို့က "နှလုံးရောဂါ'ဟူသော စကားလုံးကို မြိန်ရေရှက်ရေ ပြောကြ၏။

"မြို့စားကြီးခမျာ သနားစရာပဲနော်။ သမားတော် က အသက်ဘေး စိုးရိမ်ရတယ်လို့ပြောတော့ ခမျာမှာ ကလေးလေးတစ်ယောက်လို ရှိုက်ကြီးတငင် ငိုရှာတယ် ဆိုပဲ"

"အို၊ တကယ့်ကို ဆုံးရှုံးမှုကြီးတစ်ရပ်ပါပဲဗျာ။ မြို့စားကတော်ကလေးကဖြင့် တကယ်စွဲမက်စရာ မိန်းမ တစ်ဦးပါပဲ"

"မြို့စားကတော်လေးဟယ်လင်ထိပ်ထားအကြောင်း ကို ပြောနေကြတယ် ထင်တယ်။ ဟုတ်စ" မှန်နန်းအပျို တော်ကြီး အင်နာပါဗလိုနာ ရောက်လာ၍ မေး လိုက်သည်။ "ခုတင်ပဲ မှန်နန်းအပျိုတော်ကြီး သတင်းမေးလွှတ်လိုက် တယ်လေ။ တော်တော်လေး နေကောင်းလာပါပြီတဲ့ကွယ်။ တကယ်ပါ။ မြို့စားကတော်လေး ကတော့ ကမ္ဘာပေါ်မှာ စွဲမက်စရာအကောင်းဆုံးမိန်းမပါပဲ"

မှန်နန်းအပျိုတော်ကြီးက ၎င်း၏ စိတ်အားထက် သန်ပုံကို သဘောကျကာ ပြုံးလိုက်၏။ ပြီးမှ

"မှန်နန်းအပျိုတော်ကြီးနဲ့ ဟယ်လင်ထိပ်ထားဟာ အယူအဆချင်းတော့ မ တူပါဘူး။ ဒါပေမဲ့ ဒီလိုအယူအဆ မတူခြင်းဟာ ဟယ်လင်ထိပ်ထားအပေါ် ထားရှိ တဲ့ မှန်နန်း အပျိုတော်ကြီးရဲ့ လေးစားမြတ်နိုးမှုကို မတားဆီးနိုင်ပါ ဘူး။ အင်း၊ ခမျာမှာလဲ ကံဆိုးရှာပေတာပဲနော်"

မှန်နန်းအပျိုတော်ကြီးက ဤသို့ ဆိုလိုက်ခြင်းသည် မြို့စားကတော်လေး ဟယ်လင်၏ ရောဂါအခြေအနေကို ဖုံးကွယ်လျှို့ဝှက်ထားသည့်ကန့်လန့်ကာကြီး ကို စ၍ မတင် လိုက်ခြင်းဖြစ်သည်ဟု ယူဆလိုက်သည့်အလျောက် မြို့စား ကတော်လေး ဟယ်လင်သည် သမားကျော်များကို ပင့်ခေါ် ခြင်းမရှိဘဲ အန္တ ရာ ယ်ကြီးလှသည့် ဆေးဝါးများကို တိုက် ကျွေးမည့်သမားတု သမားယောင်များဖြင့် ကုသလျက်ရှိ သည့်အတွက် အံ့သြမိကြောင်းကို လူရွယ်တစ်ယောက်က အရဲစွန့်၍ ပြောလိုက်သည်။

"တူတော်မောင်က မှန်နန်းအပျိုတော်ကြီးတို့ထက် အသိလိမ္မာ ပိုကောင်းပို ပေမှာပေါ့လေ" မှန်နန်း အပျိုတော် ကြီးက အတွေ့ အကြုံနည်းပါးလှသေးသည့် လူရွယ်ကို ဆိုးဆိုးဆတ်ဆတ် ပြန်ပြောလိုက်သည်။ "ဒါပေမဲ့ ခုသမား တော်ကြီး ဟာဖြင့် အလွန်နားလည်တတ်ကျွမ်းပြီး စွမ်းရည် ရှိတဲ့ ပုဂ္ဂိုလ်တစ်ဦးဖြစ်တယ်ဆို

တာကိုတော့ မှန်နန်းအပျို တော်ကြီး ခိုင်ခိုင်လုံလုံသိထားသကွယ့်။ ခုသမားတော်ကြီး ဟာ စပိန်ဘုရင်မကြီးရဲ့ သမားတော်ကွယ်”

မှန်နန်းအပျိုတော်ကြီးသည် လူရွယ်ကို ဤသို့ ချေဖျက်ပြောဆိုပြီးနောက် အခြားစကားဝိုင်းတစ်ဝိုင်းဘက် သို့ လှည့်ထွက်လာခဲ့သည်။ ထိုစကားဝိုင်း၌ကား သံတမန် အရာရှိဘီလီဘင်သည် ဩစထရီးယန်းများအကြောင်းကို ပြောဆိုလျက်ရှိ၏။ ဘီလီဘင်သည် မျက်နှာကို ရှုံ့လိုက် ပြီးနောက် ရွံ့ထားသောအကြောများကို ပြန်ဖြေလျက် ၎င်း၏ “သောလုံး”ကလေးများကို ပြောရန် ပြင်လိုက်သည်။

“တော်တော်လေးတော့ ရယ်ရတယ်ခင်ဗျာ”ဟု ဘီလီဘင်က ပြောလိုက်သည်။ ဘီလီဘင်သည် စိန့်ပီတာ စဘတ်မြို့တော်တွင် “ပီထရိုပိုမြို့၏ သူရဲကောင်း”ဟု အမည်တွင်လျက်ရှိသော မြို့စားကြီး ဝပ်ဂျင်စတိန်းက ပြင်သစ်တို့ထံမှ ဖမ်းဆီးရမိခဲ့သော ဩစထရီးယား စစ် တံခွန်များနှင့်အတူ ဗီယင်နာ ရွှေမြို့တော်ကြီးသို့ ပေးပို့လိုက် သည့် သံတမန်စာချွန်တစ်စောင်အကြောင်းကို ရည်ညွှန်း ပြောဆိုလျက် ရှိသည်။

“ဘာများလဲကွယ့်၊ ဘာတွေများ ရယ်နေရတာလဲ" မှန်နန်းအပျိုတော်ကြီးက ၎င်းကိုယ်တိုင် တစ်ခါကြားနာခဲ့  ဖူးပြီဖြစ်သော ဘီလီဘင်၏ “သောလုံးကို အားလုံးက စိတ်ဝင်စားစွာ နားထောင်စေရန်အတွက် လမ်းခင်းပေး လိုက်သည်။

ထိုအခါ ဘီလီဘင်ကလည်း ၎င်းကိုယ်တိုင် ရေး ပေးလိုက်သည့် သံတမန်စာချွန်မှ စကားလုံးများကို အတိ ( အကျ ရွတ်ပြနေသည်။

“သဟာယမဟာမိတ်တံခွန်များဖြစ်ကြသော ဩစ တြီးယား ရွှေနန်းရှင်၏ တံခွန်များသည် တကွဲတပြား လွင့်ပါးကာ မှားယွင်းသော လမ်းပေါ်တွင် ကောက်ယူ တွေ့ရှိပါသဖြင့် ၎င်းတို့ကို ရုရှားရွှေနန်းရှင်က ပြန်လည် ပေးပို့လိုက်ပါသည်တဲ့ခင်ဗျ”

ဗီလီဘင်က စကားလုံးများ ရွတ်ပြပြီးနောက် နဖူး ပြင်ကို ရှုံ့ထားရာမှ ပြန်ဖြေလိုက်သည်။

"တယ်ပြီး ထိမိတဲ့စကားလုံးတွေပဲဗျာ။ သိပ်ထိတာ " မင်းသားကြီးဗာစီလီက ထောက်လိုက်သည်။

"မှားယွင်းသော လမ်းဆိုတာ ဘာလဲဗျ။ ဝါဆော မြို့ကို သွားတဲ့ လမ်းမကြီးလား" မင်းသားကလေး တစ် ပိုလီတီက နိဒါန်းပျိုးခြင်းမရှိဘဲ ခပ်ကျယ်ကျယ်လှမ်းမေး လိုက်သည်။ မင်းပရိသတ်များသည် ဟစ်ပိုလီတီ၏ စကား များအနက်အဓိပ္ပာယ်ကို နားမလည်ဘဲ လှမ်းကြည့်နေကြ သည်။ ဟစ်ပိုလီတီ ကိုယ်၌ကလည်း ရှင်လန်းအံ့ဩသော မျက်နှာထားဖြင့် လှမ်းကြည့်နေသည်။ ၎င်းကိုယ်နှိုက်က လည်း ၎င်း၏စကားများ အနက်အဓိပ္ပာယ်ကို အခြားသူများ ၊ ထက် ထူး၍ ဘာမျှမသိချေ။ ၎င်း၏ သံတမန်အမှုထမ်း သက်တစ်လျှောက်တွင် ဤသို့ ပါးစပ်ကထွက်မိထွက်ရာ ပြောလိုက်ခြင်းကို ဇဝနညာဏ်ထက်သန်ပေသည်ဟု ကြိုဆိုလက်ခံကြကြောင်းကို ဟစ်ပိုလီတီသည် တစ်ကြိမ်မက သတိထားခဲ့မိပြီး ဖြစ်၏။ ထို့ကြောင့်လည်း ဟစ်ပိုလီတီ သည် ခေါင်းထဲသို့ ပထမဆုံးဝင်ရောက်လာသည့် စကား လုံးများကို အခါအခွင့်သင့်တိုင်း ဤသို့ ပြောခဲ့ဖူးပေါင်း များလှပေပြီ။ "နောက်တော့ အဓိပ္ပာယ်နားလည်သွားကြမှာ ပေါ့လေ။ နားမလည်ရင်လဲ ဘယ်လိုအလိုက်အထိုက် နေရမယ်ဆိုတာ သူတို့ဘာသာ သိသွားကြလိမ့်မပေါ့"ဟု ဟစ်ပိုလီတီ တွေး၏။

၎င်းတွေးသည့်အတိုင်းပင် နားမလည်၍ ကြောင် အမ်းအမ်းဖြစ်နေကြသည့် အတောအတွင်း၌ လုံလောက်  စွာ မျိုးချစ်စိတ်ထက်သန်ခြင်း မရှိသေးသည့်အတွက် မှန်နန်းအပျိုတော်ကြီးက "ချွတ်"ပေးရမည့် ပုဂ္ဂိုလ်ကြီး ဝင်ရောက်လာသည်တွင် မှန်နန်းအပျိုတော်ကြီးသည် ဟစ်ပို လီတီကို လက်ညှိုး

ကလေးထောင်၍ ယမ်းပြလိုက်ပြီးနောက် မင်းသားကြီး ဗာစီလီအား စားပွဲသို့ ဖိတ်ခေါ်ကာ ဖယောင်း တိုင်နှစ်တိုင်နှင့် ဩဝါဒစာတမ်းကို ယူလာလျက် စာဖတ်ရန် တောင်းပန်ခြင်း ပြုလေသည်။ ထိုအခါ၌ 'အားလုံးတိတ် ဆိတ်သွားကြလေသည်။

“ဒကာတော် ရေမြွေသခင် ရွှေနန်းရှင် ဘုရင်မင်း မြတ်”

မင်းသားကြီး စီလီသည် တည်ကြည်လေးနက် စွာ စတင်ဖတ်ကြားလိုက်ပြီးနောက် မိမိစာဖတ်ကောင်းခြင်း ကို မည်သူက အပြစ်ပြောလိုသေးသနည်းဟု စူးစမ်းသည့် နှယ် ပရိသတ်ကို လှည့်ကြည့်လိုက်သည်။ သို့ရာတွင် မည်သူကမျှ ပြောဆိုခြင်း မပြုကြချေ။

“အမိသည် ရှင်လန်းအားတက်သော သားငယ်တို့ ကို ၎င်း၏ ရင်ခွင်းတွင် ပွေ့ပိုက်ခြင်း ပြုသကဲ့သို့ ကျွန်ုပ် တို့၏ ရှေးဟောင်းမြို့တော်လည်း မည်၊ ဂျေရုဆလင်မြို့ သစ်ကြီးလည်း မည်သော မော်စကိုမြို့ကြီးသည်လည်း ၎င်း၏ ခရစ်တော်ကို ဆီးကြိုကြလေပြီ”

မင်းသားကြီး ဗာစီလီသည် “၎င်း၏” ဆိုသော စာလုံးကို ရုတ်တရက် အလေးအနက်ပြု၍ ရွတ်လိုက်သည်။

“ဖုံးအုပ်ရစ်ပတ်လျက် ရှိကုန်သော ဆီးနှင်းမြူတိမ် သူရိန်မီးခိုးတို့အကြားမှ ဒကာတော်ရေမြွေရှင် အာဏာစက် ၏ ခမ်းနားကြီးကျယ်သော ဘုန်းတန်ခိုးတော် ကို ကြည့် မြင်လျက် “လာသူ၌ အောင်မြင်ခြင်းကို ဖြစ်စေသတည်း”ဟု ကျွန်ုပ် မေတ္တာပို့ပါ၏”

မင်းသားကြီး ဗာစီလီသည် နောက်ဆုံးစကားများ ကို ငိုသံပါကြီးဖြင့် ရွတ်ဆိုခြင်းပြုလေသည်။

ဘီလီဘင်ကား ၎င်း၏ လက်သည်းများကို ဂရုတစိုက် ကြည့်လျက် ရှိ၏။ မင်းပရိသတ်များမှာလည်း မည်သူ့ကို အပြစ်ဆိုရမည်နည်းဟု မေးသကဲ့သို့ ထိတ်လန့်တုန်လှုပ်သောအမူအရာကို ပြလျက်ရှိကြ၏။ ဘုရား ဝတ်ကျောင်းတွင် အဘွားအိုကြီးများ ဝတ်ရွတ်စဉ်ဆိုသကဲ့ သို့ မှန်နန်းအပျိုတော်ကြီးသည်လည်း လာလတ္တံ့သော စကားလုံးများကို ရှေ့မှ ကြို၍ ရွတ်ဖတ်လျက် ရှိသည်။

"ရိုင်းပျ၍ ကျူးကျော်စော်ကားသော ဂိုးလိယတ် သည်" မှန်နန်းအပျိုတော်ကြီးက ခပ်တိုးတိုးကြို၍ ရွတ် လိုက်သည်။

"ပြင်သစ်နယ်စပ်မှ ရိုင်းပျ၍ ကျူးကျော်စော်ကား သော ဂိုးလိယတ်သည် သေခြင်းကို ဆောင်ယူသည့် ကြောက်မက်ဖွယ်တို့ဖြင့် ရုရှားနိုင်ငံတော် နယ်ပယ်အဝှန်း ကို ဝန်းရံလာအံ့၊ ရုရှားလူမျိုးတည်းဟူသော ဒေဝိ၏ ယုံ ကြည်ခြင်းတရားဟူသော လောက်လွှဲကြီးသည် သွေးဆာ သောမာနတို့ဖြင့် ပြည့်လျှမ်းသည့် သင်း၏ ဥကျောင်းကို ရိုက်ခွဲအံ့။ ထာဝရ ဘုရားသခင်၏ သာဝကကြီးလည်းဖြစ်၊ ကျွန်ုပ်တို့နိုင်ငံတော် သာယာစည်ပင်ရေး၏ ထက်သန်သော တမန်ကြီးလည်း ဖြစ်သည့် ရှင်တော်ဘဂျီးယပ်စ်၏ ဆင်း တုတော်ကို ဒကာတော် ရေမြွေရှင်အား ကိုယ်တိုင်တွေ့ဆုံ ရခြင်းကြောင့် ရရှိလတ္တံ့သော ဝမ်းသာရွှင်လန်းမှုကို တားဆီးလျက်ရှိသည့် ကျွန်ုပ်၏ ဆုတ်ယုတ်လျက်ရှိသော အားအင်အတွက် စိတ်မကောင်းဖြစ်မိပါသည်။ ဘုန်းတော် အနန္တ နှင့် ပြည့်စုံတော်မူသော ဘုရားသခင်သည် တရားသူ တို့ကို ချီးမြှောက်၍ ဒကာတော်ရေမြွေရှင်၏ ဆန္ဒတို့ကို သနားကရုဏာကြီးစွာ ဖြည့်ဆည်းတော်မူစေသတည်းဟု ကျွန်ုပ် ဆုတောင်းလိုက်ပါသည်။"

"တယ်ပြီးခွန်အားရှိတဲ့ စာပဲခင်ဗျ။ ဖတ်ပုံကလဲ တယ်ကောင်းပေတာပဲ"

အားလုံးက ရေးသူကိုရော ဖတ်သူကိုပါ ချီးကျူး ထောမနာပြုကြ၏။

မှန်နန်းအပျိုတော်ကြီး၏ မင်းပရိသတ်သည် သြ ဝါဒစာတမ်းကြောင့် စိတ်အားထက်သန်လာကြပြန်ကာ အဖနိုင်ငံကြီး၏ အခြေအနေကို အတန်ကြာမျှ ပြောဆို လျက်ရှိကြပြီးနောက် မကြာမီရက်များအတွင်း ဖြစ်ပွား အံ့ဆဲဆဲဖြစ်သော တိုက်ပွဲကြီးနှင့် စပ်လျဉ်း၍ သူတစ်မျိုး ငါတစ်ဖုံ ထင်မြင်ချက်ပေးလျက် ရှိကြလေသည်။

"မနက်ဖြန်ဆိုရင် ဘုန်းတော်ကြီးသော ဘုရားရဲ့ မွေးနေ့ပဲရှင့်" မှန်နန်းအပျိုတော်ကြီးက ပြောလိုက်၏။ "အဲဒီနေ့မှာ ဧကန္တ သတင်းထူးကြီးတစ်ခုခုတော့ ကြားရမှာ ပဲ။ စောင့်သာနားထောင်ကြပေတော့။ မင်္ဂလာရှိတဲ့သတင်း ကို ကြားရလိမ့်မယ်လို့ မှန်းနန်းအပျိုတော်ကြီး "အကြား အမြင်" ရထားတယ်။

# အခန်း ၂

မှန်နန်းအပျိုတော်ကြီး အင်နာပါဗလိုနာ ရရှိထားသော "အကြားအမြင်"မှာ တကယ်မှန်နေလေပြီ။ နောက်တစ်နေ့ ရွှေနန်းတော် သုဓမ္မာဇရပ်၌ ဘုန်းတော်ကြီးသော ဘုရား၏ မွေးနေ့ဆုတောင်းမင်္ဂလာပွဲကျင်းပနေစဉ်အတွင်း၌ မင်းသားကြီး ဗိုလ်ချုပ်ကြီးဘိုလကွန်စကီ (အင်ဒရေ၏ ခမည်းတော် မဟုတ်)ကို သုဓမ္မာဇရပ်အတွင်းမှ ဆင့်ခေါ်ကာ စစ်သေနာ ပတိဗိုလ်ချုပ်ကြီး ကူတူဇော်၏ စာချွန်ကို ပေးအပ်ခြင်းပြု လေသည်။ ထိုစာချွန်မှာ ဘိုရိုဒီနိုတိုက်ပွဲဖြစ်ပွားသွားသော နေ့တာတာ ရီနိုဗာမှ ရေးပို့လိုက်သည့် ဗိုလ်ချုပ်ကြီးကူတူ ဇော့ဗ်၏ အစီရင်ခံစာချွန်ဖြစ်၏။ ရုရှားတပ်မတော်သည် ခြေတစ်လှမ်းမှ နောက်ဆုတ်ခြင်းမရှိကြောင်း၊ ပြင်သစ်တို့၏ အကျအဆုံးမှာ ကျွန်ုပ်တို့ထက် များပြားလှကြောင်း၊ ယခုစာချွန်ကို သတင်းများ အပြည့်အစုံမရသေးမီ စစ်မြေပြင် မှ အမြန်ရေးပို့လိုက်ခြင်း ဖြစ်ကြောင်းဖြင့် ထိုစာချွန်တွင် ဖော်ပြထားလေသည်။ ထိုစာချွန်ကို ထောက်လျှင်

အောင် ပွဲတစ်ပွဲ ရခဲ့ပြီး ဖြစ်ဟန်တူလေသည်။ ထို့ကြောင့် သုဓမ္မာ ဇရပ်မှ မပြန်ကြသေးဘဲ ထာဝရဘုရားသခင်၏ ကူညီ စောင်မခြင်းအတွက် လည်းကောင်း၊ အောင်ပွဲအတွက် လည်းကောင်း ကျေးဇူးတော် ချီးမွမ်းပူဇော်ပွဲတစ်ရပ်ကို ချက်ချင်း စီမံကျင်းပကြသေးသည်။

မှန်နန်းအပျိုတော်ကြီးအင်နာပါဗလိုနာ၏ "အကြား အမြင်"သည် သွေးထွက်အောင် မှန်ပါသည်။ ထိုနေ့နံနက် ၌ ရွှင်လန်းမြူးထူးသော စိတ်ဓာတ်သည် မြို့တော်တစ်ခု လုံးကို ဖုံးလွှမ်းလျက် ရှိ၏။ အပြီးသတ် အောင်ပွဲကို ရပြီ ဟု အားလုံးက ယူဆထားကြ၏။ အချို့ကမူ နပိုလီယန်ကို ဖမ်းမိပြီဟု လည်းကောင်း၊ အရာချပြီးပြီဟု လည်းကောင်း၊ ပြင်သစ်ပြည်အတွက် ဘုရင်သစ်တစ်ပါးကို ရွေးချယ်ပြီး ပြီဟုလည်းကောင်း ပြောဆိုလျက်ပင် ရှိကြသည်။

ရွှေနန်းတော်ပတ်ဝန်းကျင် အဖြစ်အပျက်များနှင့် ဝေးကွာသည့် ပတ်ဝန်းကျင်တို့တွင် အဖြစ်အပျက်များကို ပြည့်ပြည့်စုံစုံ ပြက်ပြက်ထင်ထင် သိမြင်ရန်မှာ အလွန်ခက် ခဲလှပေသည်။ အထွေထွေ အဖြစ်အပျက်များသည် တစ်စုံ တစ်ခုသော အဖြစ်အပျက်တစ်ခု၏ အောက်၌ နစ်မြုပ် ပျောက်ကွယ်သွားတတ်ကြလေသည်။ ယခုလည်း ထိုနည်း  အတူ ရွှေနန်းတော်သူ ရွှေနန်းတော်သားတို့သည် ဘုရင်၏ မွေးနေ့တွင် သတင်းတစ်ခုရောက်လာသည်ဆိုရုံမျှဖြင့် တကယ့်အောင်ပွဲကြီးရသည့်ပမာ အားရရွှင်လန်းလျက် ရှိကြလေသည်။ တမင်တိုက်ဆိုင်အောင် လုပ်ထားသည် နှင့်ပင် တူတော့သည်။ ဗိုလ်ချုပ်ကြီး ကူတူဇော့ဗ်၏ အစီ ရင်ခံစာချွန်တွင် ရုရှားတို့ဘက်မှ အကျအဆုံးကို ဖော်ပြ ထားရာ ထိုအထဲ၌ ဗိုလ်ချုပ်တူကျဲကော့၊ ဗိုလ်ချုပ်ဘာဂရေး ရှင်းနှင့် ဗိုလ်ချုပ်ကူတူဇော့ဗ် တို့၏ အမည်များကိုလည်း ဖော်ပြထားလေသည်။ စိန့်ပီတာစဘတ်ရွှေမြို့တော်၌ ဤ သတင်းဆိုးကြီးနှင့် ပတ်သက်၍လည်း ဗိုလ်ချုပ်ကူတူ ဇော့ဗ် ကျဆုံးခြင်းကို

သာ ဥဏ္ဏာငွေယျ ပြောဆိုလျက် ရှိကြလေသည်။ ဗိုလ်ချုပ်ကူတူဇော့ဖ်မှာ လူ ချစ်လူခင် ပေါ၍ ဘုန်းတော်ကြီးသော ဘုရားကလည်း နှစ်ခြိုက်သူ တစ်ဦး ဖြစ်သည်။ အသက်ငယ်၍ စိတ်ဝင်စားဖွယ်ကောင်း သူတစ်ဦးလည်း ဖြစ်သည်။ ထို နေ့က တစ်ဦးနှင့်တစ်ဦး တွေ့ဆုံကြရာတွင် အောက်ပါစကားများဖြင့် နှုတ်ခွန်းဆက် ခြင်း ပြုကြသောဟူ၏။

"အလွန်အံ့သြစရာကောင်းတဲ့ တိုက်ဆိုင်မှုပါပဲဗျာ။ မွေးနေ့ဆုတောင်း မင်္ဂလာ ကျင်းပနေတုန်းမှာ သတင်းတွေ ရောက်လာရတယ်လို့ပဲ။ ဒါပေမဲ့ ဗိုလ်ချုပ် ကူတူဇော့ဖ် ကျဆုံးတာကတော့ ကြီးမားတဲ့ ဆုံးရှုံးမှုကြီးတစ်ရပ်ပဲခင်ဗျ။ စိတ်မ ကောင်းစရာကြီးပဗျာ" -

"ကဲ၊ ကူတူဇော့ဖ်နဲ့ ပတ်သက်လို့ ကျုပ်မပြော ဘူးလား" မင်းသားကြီး ဗာစီ လီက ပုရောဟိတ်တစ်ဦး၏ ဂုဏ်ယူခြင်းမျိုးဖြင့် ပြောလိုက်သည်။ "နပိုလီယန်ကို အနိုင်တိုက်နိုင်မယ့်သူဟာ ကူတူဇော့ဖ်တစ်ဦးတည်းသာ ရှိပါတယ်လို့ ကျုပ် အမြဲ ပြောခဲ့တယ် မဟုတ်လား"

သို့ရာတွင် နောက်တစ်နေ့၌ကား တပ်မတော်ကြီးမှ မည်သည့်သတင်းမျှ မ ရောက်လာတော့ချေ။ တိုင်းသူပြည် သားတို့၏ စိတ်၌ကား စိုးရိမ်ကြောင့်ကြမှု ကြီးစိုးစပြုလာ ခဲ့လေပြီ။ ရွှေနန်းတော်သားတို့မှာမူ စိုးရိမ်ထိတ်လန့်ဖွယ် အခြေအနေကြောင့် ဘုန်းတော်ကြီးသော ဘုရားမအီမသာ ဖြစ်နေခြင်းကိုကြည့် ကာ စိတ်လက်မကြည်မသာ ဖြစ်လျက် ရှိကြလေသည်။

"ဘုန်းတော်ကြီးသောဘုရားရဲ့ အနေအထားကို ခင်ဗျားတို့ပဲ စဉ်းစားကြည့် စမ်းပါဦးဗျာ"ဟု ၎င်းတို့က  ဆိုကြ၏။ ၎င်းတို့သည် ယမန်နေ့က ဗိုလ်ချုပ်ကြီးကူ တူ ဇော့ဖ်ကို ချီးကျူးထောမနာပြုခဲ့ကြသော်လည်း ယခုမူ ရွှေနန်းရှင်ဘုရင်အား နှလုံးမကြည်ဖြစ်အောင် ပြုရပါမည် လောဟု ဗိုလ်ချုပ်ကြီးကူတူဇော့ဖ်ကို ရှုတ်ချ

ပြစ်တင်လျက် ရှိကြလေပြီ။ ထိုနေ့တွင် မင်းသားကြီး ဗာစီလီသည်လည်း ၎င်း၏ "အချစ်တော်" ဗိုလ်ချုပ်ကူတူဇော့ဗ်နှင့် စပ်လျဉ်း ၍ ဝါကြွားပြောဆိုခြင်းမပြုတော့ဘဲ ကူတူဇော့ဗ်၏အမည် ကို ကြားတိုင်း တုဏှိဘာဝပြုလျက် ရှိကြလေသည်။

ထိုနေ့ညနေ၌ကား ပီတာစဘတ် ရွှေမြို့တော်သား တို့ကို ပို၍ နှလုံးမကြည်ဖြစ်ရန် နတ်သိကြားတို့က ဖန် ဆင်းလိုက်သည့်နှယ် အမင်္ဂလာသတင်းကြီးတစ်ခု ပေါ် ပေါက်လာပြန်လေသည်။ ထိုသတင်းကား ယခင်က မြိန် ရေရှက်ရေခေါ်ခဲ့ကြသည့် ကြောက်မက်ဖွယ်ရောဂါဆိုး ကြီး၏ ဒဏ်ဖြင့် မြို့စားကတော်ကလေးဟယ်လင် ရုတ် တရက် ကွယ်လွန်သွားပြီဆိုသည့် သတင်းပင်ဖြစ်လေ သည်။ ပရိသတ်စုံလင်သည့် မင်းပွဲသဘင်ကြီးများ၌ မြို့စားကတော်လေးဟယ်လင်မှာ ကြောက်မက်ဖွယ်နှလုံး ရောဂါကြောင့် ကွယ်လွန်သွားခြင်း ဖြစ်သည်ဟု တရားဝင် ပြောဆိုကြသော်လည်း ရင်းနှီးသောအသိုင်းအဝိုင်းများ၌မူ စပိန်ဘုရင်မကြီး၏ သမားတော်ကြီးက တစ်စုံတစ်ရာ သော အကျိုးသက်ရောက်မှုရှိစေရန် တစ်စုံတစ်ရာသော ဆေးအနည်းငယ်ကို မည်သို့မည်ပုံ တိုက်ကျွေးလိုက် ကြောင်း၊ သို့ရာတွင် မြို့စားကတော်လေးဟယ်လင်မှာ (အခြား လင်ငယ်တစ်ဦးဖြစ်သူ) အဘိုးအိုမြို့စားကြီးက ၎င်းအပေါ်တွင် သင်္ကာမကင်းဖြစ်လျက် ရှိခြင်းကြောင့်လည်းကောင်း၊ ဖြတ်စာရေးထားသည့် ၎င်း၏လင် (အကျင့် ပျက်နေသော လူဆိုးလူသွမ်းပီယာ)က အကြောင်း တစ်စုံ တစ်ရာ ပြန်ကြားခြင်းမရှိသည့်အတွက်ကြောင့် လည်း ကောင်း စိတ်ညစ်ကာ ဆေးများကို အလွန်အကျွံသောက် လိုက်ကြောင်း၊ ဤတွင် သမားတော်များ ရောက်မလာမီ ဝေဒနာကို ကြီးစွာခံစားကာ ကွယ်လွန်သွားရရှာခြင်း ဖြစ်ကြောင်းဖြင့် အသေးစိတ် ဝေဖန် ပြောဆိုလျက် ရှိ ကြလေသည်။ ခမည်းတော် မင်းသားကြီးဗာစီလီနှင့် အဘိုးအိုမြို့စားကြီးတို့သည် ထိုကိစ္စအတွက် အီတလီသမား တော်နှင့် ကတောက်ကဆဖြစ်ကြသေးသော်လည်း

အီတလီ သမားတော်က ကံဆိုးသူမင်းသမီးလေး၏ ရည်းစားစာများ  ကို ထုတ်ပြသဖြင့် ထိုကိစ္စကို ကျိတ်ချေလိုက်ရသည်ဟု လည်း ပြောဆိုလျက် ရှိကြလေသည်။

အာလာပသလ္လာပစကားများမှာ စိတ်ညစ်ညူးဖွယ် ကိစ္စကြီးသုံးခုအပေါ်တွင် မဏ္ဍိုင်ပြုလျက်ရှိ၏။ ၎င်းတို့မှာ ဘုန်းတော်ကြီးသောဘုရားထံ မည်သည့်သတင်းမျှ ရောက် လာခြင်း မရှိသည့်ကိစ္စ၊ ဗိုလ်ချုပ်ကူတူဇော့ဗ် ကျဆုံးသည့် ကိစ္စတို့ ဖြစ်လေသည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်ထံမှ ဘုန်းတော် ကြီးသော ဘုရားထံသို့ အစီရင်ခံစာချွန် ရောက်ပြီး သုံး ရက်မြောက်သောနေ့၌ မော်စကိုမှ သူကောင်းမျိုးနွယ်တစ်ဦး ပီတာစဘတ် ရွှေမြို့တော်သို့ ရောက်ရှိလာလေရာ မော်စကို မြို့ကို ပြင်သစ်တို့လက်သို့ အပ်လိုက်ရပြီဆိုသည့်သတင်း သည် ရွှေမြို့တော် လေးပြင်လေးရပ်တွင် ပြန့်နှံ့လျက်ရှိ လေသည်။ မည်မျှ ကြောက်စရာ ကောင်းသော အခြေအနေ ပေနည်း။ ဘုန်းတော်ကြီးသော ဘုရားအဖို့ မည်မျှအနေရ ခက်မည်နည်း။ စစ်သေနာပတိ ကူတူဇော့ဗ်သည် သစ္စာ ဖောက်တစ်ဦး မဟုတ်လော။ ဤသို့ဖြင့် မင်းသားကြီး ဗာစီလီသည် သမီးတော်ဟယ်လင်မင်းသမီးလေး၏ အသုဘသို့ လာရောက်သူတိုင်းအား မိမိ တစ်ခါက ချီး ကျူးပြောဆိုခဲ့သည့် ကူတူဇော့ဗ်နှင့် စပ်လျဉ်း၍ ယင်းသို့ သော အကျင့်ပျက်နေသည့် တစ်ဖက်ကန်းအဘိုးကြီးထံ မှ မည်သည့်အရာကိုမျှ မျှော်လင့်နိုင်မည် မဟုတ်ကြောင်း ဖြင့် ပြောဆိုလျက် ရှိလေသည်။ (ခမျာ သမီးဆုံးသဖြင့် ပရိဒေဝ မီးတောက်လောင်နေခြင်းကြောင့် ကိုယ်ပြောမိ သားစကားကို မေ့လျော့နေရှာပေသည်ဟု ယူဆကာ မင်းသားကြီး ဗာစီလီကို ခွင့်လွှတ်မည်ဆိုလျှင်လည်း ခွင့်လွှတ်နိုင်ပါသည်။)

”ရုရှားနိုင်ငံတော်ကြီးရဲ့ ကံကြမ္မာကို ကူတူဇော့ဗ် လို လူမျိုးလက်ထဲ ယုံယုံကြည်ကြည် ပုံအပ်ထားတာကို သာ အံ့ဩတာပါပဲဗျာ”ဟု မင်းသားကြီးဗာစီလီ

က ဆို၏။

မော်စကိုကျပြီဆိုသည့် သတင်းစကားကို တရားဝင် ကြေညာခြင်းမပြုသေးသည့်အလျောက် မယုံကြည်ဘဲ နေ လျှင် နေနိုင်ပါသေးသည်။ သို့ရာတွင် နောက်တစ်နေ့၌မူ မော်စကိုမြို့ဝန် ရော့စတော့ချင်ထံမှ အောက်ပါအတိုင်း စာချွန်တစ်စောင် ရောက်လာခဲ့လေသည်။

"တပ်မတော်ကြီး ဆုတ်ခွာရာ၌ ရာဇန်ပေတရာ လမ်းမကြီးတစ်လျှောက် လမ်းပြရန် ရဲအရာရှိများ ပေးပို့ ရန် တောင်းဆိုသော စာချွန်တစ်စောင်ကို ဗိုလ်ချုပ်ကြီး ကူတူဇော့ဖ်၏ တပ်ရေးပေးပို့လာပါသည်။ ထိုစာချွန်၌ မိမိသည် ဝမ်းနည်းကြေကွဲစွာဖြင့် မော်စကိုမြို့ကြီးကို စွန့်ခွာခဲ့ရပြီဟုလည်း ဖော်ပြထားပါသည်။ လျှောက်ထား ဝံ့ပါသည်ဘုရား။ စစ်သေနာပတိချုပ် ဗိုလ်ချုပ်ကြီးကူတူ ဇော့ဖ်၏ အပြုအမူသည် ရွှေမြို့တော်ကံကြမ္မာနှင့် ဘုန်း တော်ကြီးသောဘုရား နိုင်ငံတော်၏ ကံကြမ္မာကို အဆုံး အဖြတ်ပြုလျက် ရှိပါသည်။ ဘုန်းတော်ကြီးသော ဘုရား ဘိုးဘွားများ၏ အလောင်းတော်များ ကိန်းဝပ်ရာ၊ နိုင်ငံ တော်၏ ကြီးမြတ်ခြင်းဟူသမျှတို့ စုရုံးရာဖြစ်သော မော် စကိုမြို့တော်ကြီးအား စွန့်ခွာခဲ့ရပြီဟု သိလျှင် ရုရှားနိုင်ငံ တော်ကြီးသည် တုန်လှုပ် ချောက်ချားခြင်း ဖြစ်ချေတော့ မည်။ ကျွန်တော်မျိုးလည်း တပ်တော်ကြီးနှင့် အတူလိုက် ပါ ထမ်းရွက်မည် ဖြစ်ပါသည်။ ပစ္စည်းများအားလုံးကို လည်း ရွှေ့ပြောင်းပြီဖြစ်ပါသည်။ ယခုအချိန်၌ ကျွန်တော်မျိုး ပြုရန်ကိစ္စကား အဖနိုင်ငံတော်ကြီး၏ ကံကြမ္မာအတွက် ငိုကြွေးပူဆွေးရုံသာ ရှိပါတော့သည်။"

ထိုစာချွန်ကို ရသည့်နောက်၌ ဘုန်းတော်ကြီးသော ဘုရားသည် တပ်ရေးဗိုလ်ချုပ်ကြီး ဘိုလကွန်စကီကို စေ လွှတ်၍ အောက်ပါစာချွန်ကို စစ်သေနာပတိကူတူဇော့ဖ်ထံ ပေးပို့လိုက်လေသည်။

“မင်းသားကြီးကူတူဇော့ဗ်။ ဩဂုတ်လ ၂၉-ရက် နေ့မှစ၍ သင့်ထံမှ မည်သည့်စာချွန်မျှ ရောက်လာခြင်း မရှိ။ သို့ရာတွင် သင်နှင့်တကွသော တပ်တော်ကြီးသည် မော်စကိုမြို့ကို စွန့်ခွာရန် ဆုံးဖြတ်ပြီးပြီဟူသော သတင်းယာရိုစလာမှ တစ်ဆင့် ပေးပို့လိုက်သော မော်စကိုမြို့ဝန် ထံမှ စက်တင်ဘာလ ၁-ရက်နေ့တွင် ကျွန်ုပ် ရရှိသည်။ ဤသတင်းကြောင့် ကျွန်ုပ် မည်မျှ စိတ်ထိခိုက်ရသည်ကို သင် တွေးကြည့်က သိနိုင်သည်။ သင့်ထံမှ စာချွန်တစ်စုံ တစ်ရာ မရောက်လာသည့်အတွက် ပို၍ အံ့ဩခြင်း ဖြစ် ရသည်။ တပ်တော်ကြီး၏ အခြေအနေနှင့်တကွ ဤစိတ် ညစ်ညူးဖွယ်ကောင်းသည့် ဆုံးဖြတ်ကျက်ကို မည်သည့် အတွက် ချမှတ်ရကြောင်း ကြားနာရန်အတွက် ဤစာချွန် နှင့်အတူ တပ်ရေးချုပ်မင်းသားကြီး ဘိုးကွန်စကီကို ကျွန်ုပ် စေလွှတ်တော်မူလိုက်သည်”

# အခန်း ၃

မော်စကိုမြို့မှ ဆုတ်ခွာပြီးနောက် ၉-ရက်အကြာ၌ ထို ” အဖြစ်အပျက်ကို တရားဝင်ဖော်ပြထားသော အစီရင်ခံစာ ချွန်နှင့်အတူ ဗိုလ်ချုပ်ကူတူဇော့ဗ်ထံမှ စေတမန်တစ်ဦး သည် ပီတာစဘတ်ရွှေမြို့တော်သို့ ရောက်ရှိလာခဲ့လေသည်။ ထို စေတမန်ကား ရုရှားစကားကို တစ်လုံးမျှမတတ်သော် လည်း “လူက နိုင်ငံခြားသားဖြစ်စေကာမူ စိတ်နှင့် ဝိညာဉ် . မှာ ရုရှားလူမျိုး ဖြစ်ပါသည်”ဟု သူ့ကိုယ်သူ ကြွေးကြော် လေ့ရှိသူ ပြင်သစ်လူမျိုး မိဂ်ဆိုသူ ဖြစ်လေသည်။

ဘုန်းတော်ကြီးသောဘုရားသည် ကျောက်ကျွန်းရှိ စံနန်းတော် စာကြည့်ဆောင်တွင် ထိုစေတမန်ကို ချက်ချင်း အခစားဝင်စေ၏။ မော်စကိုမြို့ကို ယခင်တစ်ခါမျှ မြင်ဖူး ခြင်းလည်း မရှိ၊ ရုရှစကားကို တစ်လုံးမျှ နားလည်ခြင်း လည်း မရှိသည့် ပြင်သစ်လူမျိုး စေတမန် မိရှာသည် (၎င်း၏စကားအတိုင်း ပြောရလျှင်) “မိမိ

လာရာလမ်းကို အလင်းရောင်ထွန်းညှိပေးသော မော်စကိုမြို့ကြီး မီးလောင် ကျွမ်း ပုံသတင်းကို ယူဆောင်လာရသည့်အတွက် "ကျွန်ုပ်တို့ ၏ ဘုန်းကျက်သရေ အဖြိုး ဝေဆုံးသော ရွှေနန်းရှင်က ရာဇ်"၏ရှေ့မှောက်သို့ ခစားသောအခါ၌ လွန်စွာ ဝမ်းနည်း ပူဆွေးသော ဟူသတတ်။

ပြင်သစ်လူမျိုး စေတမန်မိရှော ဝမ်းနည်းပူဆွေး ရသည့် အကြောင်းရင်းနှင့် ရုရှားလူမျိုးများ ဝမ်းနည်းကြေ ကွဲရသည့် အကြောင်းရင်းတို့သည် ကွဲပြားခြားနား ကြမည် ဖြစ်သော်လည်း ဘုန်းတော်ကြီးသော ဘုရား၏ ရှေ့တော် မှောက်သို့ ရောက်သည့်အခါ၌ ၎င်း၏မျက်နှာမှာ လွန်စွာ ပူဆွေးဝမ်းနည်းသည့်အသွင်ကို ဆောင်လျက်ရှိခြင်းကြောင့် ဘုန်းတော်ကြီးသော ဘုရားမှာ မနေသာတော့ဘဲ ချက်ချင်း စတင်မေးမြန်းခြင်း ပြုရလေသည်။

"ဗိုလ်မှူးကြီး၊ သင်ဆောင်ယူခဲ့သော သတင်းသည် ဝမ်းနည်းကြေကွဲဖွယ် သတင်းမဟုတ်လော"

"အလွန်ဝမ်းနည်းကြေကွဲဖွယ် ကောင်းလှပါသည် ဘုရား" မိချောက မျက်လွှာကို ချ၍ သက်ပြင်းတစ်ချက် ရှိုက်လိုက်သည်။ "မော်စကိုမြို့ကြီးကို စွန့်ခွာ ခဲ့ရပြီဆိုသည့် သတင်းဖြစ်ပါသည်"

"ငါ၏ ရှေးဟောင်းမြို့တော်ကြီးကို သေနက်တစ် ချက်မျှ ပစ်ဖောက်ခြင်းမ ပြုဘဲ သင်းတို့စွန့်ခွာခဲ့ကြသလော"

ဘုန်းတော်ကြီးသောဘုရားက ထိုမေးခွန်းကို လျင် မြန်စွာ မေး၏။ ၎င်း၏မျက်နှာသည် ရုတ်တရက် နီရဲ တက်လာသည်။

မိရှာသည် ဗိုလ်ချုပ်ကြီးကူတူဇော့ဗ်၏ စာချွန်ကို ရိုသေလေးမြတ်စွာ ဆက်သခြင်းပြုသည်။ မော်စကိုတွင် ခုခံတိုက်ခိုက်ရန် မဖြစ်နိုင်တော့ကြောင်း၊ မိမိ

အဖို့ တစ်ခု တည်းသော ရွေးစရာလမ်းမှာ တပ်တော်ကြီးနှင့်တကွ မော်စကိုမြို့ကြီးကို အဆုံးရှုံးခံမည်လော၊ သို့တည်းမဟုတ် မော်စကိုမြို့ကြီးတစ်ခုတည်းကို အဆုံးခံမည်လော ဟူသော လမ်းသာ ဖြစ်တော့ကြောင်း၊ မိမိသည် ဒုတိယလမ်းကို ရွေးချယ်ရန်သာ ရှိတော့ကြောင့်ဖြင့် ထိုစာချွန်တွင် ဖော်ပြ ထားလေသည်။

ဘုန်းတော်ကြီးသော ဘုရားသည် မိဂ်ကို ကြည့် ရှုခြင်းမပြုဘဲ ဆိတ်ဆိတ်နားထောင်တော်မူသည်။

"ရန်သူတို့ မြို့တွင်းသို့ ဝင်ကြပြီလော" ' ဘုန်းတော်ကြီးသောဘုရားက မေးမြန်း၏။

"လျှောက်ဝ"ပါသည်ဘုရား။ ယခုအချိန်၌ မော် စကိုမြို့ကြီးသည် ပြာပုံအတိဖြစ်လျက် ရှိပါပြီ။ မီးဟုန်းဟုန်း တောက်လောင်လျက်ရှိချိန်၌ ကျွန်တော်မျိုး မြို့ကခွာခဲ့ ပါသည်"

မိချောက ပြတ်သားသောအသံဖြင့် လျှောက်ကြား ခြင်းပြုသည်။ သို့ရာတွင် ဘုန်းတော်ကြီးသောဘုရားကို ဖူးမြော်ရင်းက မိမိလျှောက်တင်ချက်ကြောင့် တစိမ့်စိမ့် ကြောက်လျက်ရှိလေပြီ။

ဘုန်းတော်ကြီးသောဘုရားသည် လျင်မြန်ပြင်းပြစွာ အသက်ရှူလျက် ရှိ၏။ အောက်နှုတ်ခမ်းသည် တုန်ယင် လျက်ရှိ၏။ လှပပြောလှဲသောမျက်လုံးများ၌ မျက်ရည်များ သည် လျင်မြန်စွာ ရစ်ဝဲလာကြသည်။

သို့ရာတွင် ထိုအဖြစ်မှာ တစ်ခဏမျှသာ ကြာ၏။ ဘုန်းတော်ကြီးသောဘုရားသည် ၎င်း၏ ပျော့ညံ့မှုအတွက် မိမိဘာသာ အပြစ်တင်သည့်နှယ် ချက်ချင်း မျက်မှောက် ကုတ်လိုက်လျက် ဦးခေါင်းကိုမော့ကာ မိရှော့အား တင်းမာ သောအသံဖြင့် မိန့်မြွက်တော်မူ၏။

“ဗိုလ်မှူးကြီး ဖြစ်ပျက်နေသော အခြင်းအရာတို့ကို ထောက်သော် ငါတို့ထံမှ ကြီးစွာသော စွန့်လွှတ်မှုမျိုးကို  ဘုရားသခင် တောင်းဆိုတော်မူပြီးဟု ငါထင်သည်။ ဘုရား သခင်၏ အလိုခပ်သိမ်း ဖြစ်စေရန်အတွက် ငါ၏ကိုယ်ကို အပ်နှင်းပေအံ့။ သို့ရာတွင် သေနတ်တစ်ချက်မျှ ပစ်ဖောက် ခြင်းမပြုဘဲ ငါ၏ ရှေးဟောင်းမြို့တော်ကြီး ရန်သူလက် သို့ ကျခြင်းကို မြင်ရသည့်အခါ၌ ငါ၏ တပ်တော်ကြီး အခြေအနေ မည်သို့ရှိသည်ကိုကား ငါသိလိုသေးသည်။ ဗိုလ်မှူးကြီးမိရှာ၊ ငါ့အား လျှောက်တင်ဘိ။ တပ်တော် များ စိတ်ဓာတ်ပျက်ပြားနေခြင်းကို သတိမပြုမိသလော”

မိမိ၏ ဘုန်းကျက်သရေ အဖြိုးဝေဆုံးသော ဘုရင် ဧကရာဇ်မင်းမြတ် ရာဇပ္လန္တြေကို သိမ်းဆည်းကာ တည်ငြိမ် စပြုလာသည်ကို မြင်သည်၌ မိရှာသည်လည်း တည်ငြိမ် စပြုလာ၏။ သို့ရာတွင် အဖြေကို တိုက်ရိုက်တောင်းဆို လျက်ရှိသော ဘုရင်မင်းမြတ်၏ တိုက်ရိုက်လည်း ကျ၊ မေး လည်း မေးသင့်သော မေးခွန်းကို ဖြေဆိုရန်ကား ချက်ချင်း အဆင်သင့် မဖြစ်သေးချေ။

“လျှောက်ဝံပါသည်ဘုရား။ အရှင်၏ သစ္စာကို စောင့်သိရိုသေသော စစ်သား တစ်ဦးနှင့် ထိုက်တန်စွာ ပွင့်ပွင့်လင်းလင်း လျှောက်တင်ခွင့် ပြုတော်မူစေလိုပါသည် ဘုရား”

“ဗိုလ်မှူးကြီး ပွင့်လင်းခြင်းကို အစဉ်အမြဲ ငါအလို ရှိတော်မူသည်”ဟု ဘုန်းတော်ကြီးသောဘုရားက မိန့်၏။ “ငါ့အား ဘာမျှ သိုဝှက်ထားခြင်း မပြုနှင့်။ အခြေအနေ အရပ်ရပ်ကို ငါမခြွင်းမချန် သိလိုသည်”

“လျှောက်ဝံ့ပါသည်ဘုရား” မိချောက ၎င်း၏နှုတ် ခမ်းပေါ်တွင် မသိမသာ နူးညံ့သိမ်မွေ့သည့်အပြုံးကို ဆောင်လျက် လျှောက်တင်ခြင်းပြုသည်။ ယခုအချိန်၌ စိစစ်ရွေးချယ်ထားသော အဖြေတစ်ခုကို မိရှော ပြင်ဆင် . ပြီးလေပြီး

”လျှောက်ဝံ့ပါသည်ဘုရား။ ကျွန်တော်မျိုး ထွက် ခွာလာချိန်၌ ဗိုလ်ချုပ်၊ ဗိုလ်မှူးမှအစ တပ်သားအဆုံးရှိ သော တပ်တော်ကြီးတစ်ခုလုံးသည် အလွန်အမင်း ပြင်းပြ သည်းထန်စွာ ကြောက်လန့်စိုးရိမ်လျက်”

“ဘယ်လိုလျှောက်တင်လိုက်တာလဲ မောင်မင်း” ဘုန်းတော်ကြီးသောဘုရား က သုန်မှုန်စွာ မျက်မှောင်ကုတ် လိုက်ရင်း ကြားဖြတ်မိန့်တော်မူ၏။ “ကြမ္မာ ဆိုးသည် ငါ ၏ ရုရှားလူမျိုးများအား ညှိုးပန်းနွမ်းနယ်စိတ်ဝမ်းငယ် အောင် ပြုနိုင် သလော။ ဤသို့ကား ဘယ်နည်းနှင့်မျှ မဖြစ်နိုင်ပြီ”

ပြင်သစ်လူမျိုး စေတမန်မိရှာသည် ဘုန်းတော် ကြီးသောဘုရားထံမှ ဤ နှုတ်ထွက်စကားမျိုးကိုပင် စောင့် ဆိုင်းလျက် ရှိ၏။ သို့မှသာ မိမိအပတ်တကုတ် ရွေးချယ် ပြင်ဆင်ထားသောအဖြေမျိုးကို အံဝင်ခွင်ကျဖြစ်အောင် လျှောက်တင် ခြင်း ပြုနိုင်မည် မဟုတ်လော။

“လျှောက်ဝံ့ပါသည်ဘုရား” မိချောက ချစ်ကြည် လေးမြတ်သော ကျီစယ် ခြင်းမျိုးဖြင့် ဆို၏။ “တပ်တော် ကြီးတစ်ခုလုံး အလွန်အမင်းသည်းထန် ပြင်းပြစွာ ကြောက် လန့်တုန်လှုပ်လျက်ရှိခြင်းမှာ အခြားကြောင့်မဟုတ်။ ဘုန်း တော် ကြီးသောဘုရားသည် စိတ်နှလုံးရက်ရော မြင့်မြတ်သူ ပီပီ ရန်သူတို့နှင့် စစ်ပြေငြိမ်း ရန် အကြံပေးချက်များကို လက်ခံတော်မူမည်လောဟု တွေး၍ ကြောက်လန့်တုန် လှုပ်နေကြခြင်းသာ ဖြစ်ပါသည်။ တပ်တော်ကြီးမှာ တိုက်ပွဲ ဝင်ရန်ကိုသာ ပြင်းပြ ထက်သန်လျက် ရှိပါသည်။”

ရုရှားလူမျိုးတို့၏ ကိုယ်စားလှယ်ကြီးဖြစ်ပေသော ပြင်သစ်စေတမန် မိရော က လျှောက်တင်ခြင်းပြု၏။

“မိမိတို့၏ အသက်ကို စိုးစဉ်းမျှ နှမြောတွန့်တို ခြင်းမရှိ။ ရက်ရောစွာ စွန့်လွှတ်ခြင်းဖြင့် မိမိတို့သည် အရှင်ကေရာဇ်၏ အကျိုးကို မည်မျှ ဦးဆွေးဆံမြည့်

ထမ်းရွက်ကြောင်းကို အရှင်ဘုရား သိသာအောင် သက်သေ ပြလိုစိတ်ဖြင့် ပြင်းထန်လျက် ရှိကြပါသည်ဘုရား”

“အိမ်”ဟု ဘုရင်မင်းမြတ်က အလုံးကြီးကျသွား ဟန်ဖြင့် မိန့်ပြီးနောက် မျက်လုံးတွင် ကြင်နာသော အရိပ် အယောင်များ ယှက်သန်းလျက်ရှိရာမှ မိ ရှော၏ပခုံးကို ပုတ်လိုက်သည်။

“မောင်မင်း အလျှောက်ကောင်း၍ ငါသက်သာ တော့သည် ဗိုလ်မှူးကြီး”

ဘုန်းတောကြီးသော ဘုရားသည် ခေါင်းညွတ်ကာ အတန်ကြာမျှ တိတ်ဆိတ်နေတော်မူသည်။

“သို့တပြီးကား တပ်တော်သို့ ပြန်လေ” ဘုန်းတော် ကြီးသောဘုရားသည် ကိုယ်ကို မတ်၍ တင့်တယ်ခန့်ညား သောအမူအရာကို ဖြစ်စေပြီးသော် မိဂ်အား နှုတ်ဆက် ရင်း မိန့်တော်မူ၏။ “ငါ၌ တပ်သားတစ်ယောက်မျှ မကျန်တော့သော အချိန်၌ ငါ ချစ်မြတ်နိုးအပ်သော မှူးမတ် သူကောင်းမျိုးနွယ်များနှင့် ငါ၏စိတ်ထားကောင်းသော လယ်သမားများကို ဦးဆောင်လျက် ငါ့လက်နက်နိုင်ငံ တော်ကြီး၏ နောက်ဆုံးအရင်းအမြစ်တို့ကို အသုံးပြု၍ တိုက်ခိုက်မည် ဖြစ်ကြောင်းကို လမ်းတစ်လျှောက်တွင် တွေ့သည့် ငါ၏ သူရသတ္တိပြည့်စုံသော တိုင်းသူပြည်သား များနှင့် စိတ်နှလုံးကောင်းသော ခန့်မှန်းသည်ထက် များပြား သော အင်အားရှိနေသေးသည်သာ ဖြစ်သည်”

ဘုန်းတော်ကြီးသောဘုရားသည် ပြောရင်း ပို၍ စိတ်ထက်သန်စပြုလာ သည်။ ပြီးမှ ဆက်၍

”သို့တိုင်အောင် ငါ၏မင်းဆက်မင်းနွယ်တို့သည် ငါ့ဘိုးဘေးများ၏ ပလ္လင် ပေါ်တွင် ထိုင်၍ အုပ်ချုပ်မင်းလုပ် ခြင်းငှာ မသင့်ပြီဟု ကောင်းကင်ဘုံမှ

ဘုရားသခင်က ပြဋ္ဌာန်းတော်မူအံ့၊ (ဤနေရာ၌ ဘုန်းတော်ကြီးသောဘုရား သည် စိတ်လှုပ်ရှားခြင်းကြောင့် တလက်လက် တောက်ပ လျက်ရှိသော လှပသည့် မျက်လုံးများဖြင့် ကောင်းကင်ဆီ သို့ လှမ်းကြည့်တော်မူသည်။) ငါ၏ ကိုယ်စွမ်း ဉာဏ်စွမ်း ရှိသမျှ ရန်သူကို ခုခံတိုက်ခိုက်ပြီးနောက် ငါ၏ မုတ်ဆိတ် ကျင်စွယ်တို့ ကို ဤအထိ ရှည်လျားစေလျက် (ဤနေရာ ၌လည်း ဘုန်းတော်ကြီးသောဘုရား သည် ရင်ညွှန့်ဆီသို့ လက်ဖြင့် ပြတော်မူသည်။) အောက်တန်းအကျဆုံးသော ကျေးလက်တောင်သူ မိလက္ခုတို့ထံ သွား၍ ၎င်းတို့နှင့်အတူ သစ်သီးသစ်ဥတို့ကို စားလျက် ခုခံတိုက်ခိုက်အံ့။ ငါ့နိုင်ငံ ၏ ဂုဏ်အသရေ၊ ကြီးစွာသော စွန့်လွှတ်မှုကို ပြုခဲ့ကြသည့် ငါ့ပြည်သူတို့၏ အသရေကို ယုတ်ညံ့စေမည့် စစ်ပြေငြိမ်း ရေးစာချုပ် ကိုကား ချုပ်ဆိုခြင်း မပြုလိုပြီ”

ဘုန်းတော်ကြီးသော ဘုရားသည် ဤစကားများကို လှုပ်ရှားထိခိုက်သော အသံဖြင့် မြွက်တော်မူပြီးနောက် မျက်လုံးတွင် ရစ်ဝဲလာသောမျက်ရည်များကို မိဂ် မမြင် စေလိုသည့်နှယ် ရုတ်တရက် တစ်ဖက်သို့ လှည့်လိုက်ပြီး စာကြည့် ဆောင်အစွန်းတစ်ဖက်သို့ လျှောက်သွားတော်မူ သည်။ ထိုနေရာတွင် အတန်ကြာ ရပ်နေပြီးလျှင် မိရှောထံ သို့ ပြန်လှည့်လာပြန်ကာ လက်မောင်းတံတောင်ဆစ် အောက်နားကို ခပ်ဖိဖိဆုပ်ကိုင်ဖျစ်ညှစ်လိုက်၏။ ဘုန်းတော် ကြီးသောဘုရား၏ ချိုသာတင့်တယ်သောမျက်နှာသည် နီရဲလျက်ရှိ၍ မျက်လုံးများသည်လည်း ဒေါသ နှင့် သိန္နိဋ္ဌာန် တို့ကြောင့် တလက်လက်တောက်လျက် ရှိကြလေသည်။

”ဗိုလ်မှူးကြီးမိရှော၊ ဤနေရာတွင် ငါပြောခဲ့သည့် စကားကို မြဲမြဲမှတ်လေ။ တစ်နေ့သောအခါ၌ ဤနေရာတွင် ငါ ဤသို့ ပြောခဲ့ဖူးကြောင်းကို တစ်နေ့တွင် ကြည်နူး စွာ စမြုံ့ပြန်နိုင်လိုမည်ဟု ငါထင်သည်။ နပိုလီယန် လော၊ သို့မဟုတ် ငါ လော”

ဘုန်းတော်ကြီးသော ဘုရားသည် ၎င်း၏ရင်ညွှန့် ကို ထောက်ပြ၏။

"ရွှေဂူတွင် ခြသေ့်နှစ်ကောင် မအောင်းနိုင်သကဲ့ သို့ ငါတို့နှစ်ဦးလည်း အတူတကွ မအုပ်စိုးနိုင်ပြီ။ ငါ သည် သင်းအကြောင်းကို ကောင်းကောင်းသိခဲ့ပြီ။ ငါ့ကို သင် နောက်ထပ် လိမ်လည်၍ မရပြီ"

ဘုန်းတော်ကြီးသောဘုရားသည် မျက်မှောင်ကုတ် ၍ ငုံ့နေသည်။

ဘုန်းတော်ကြီးသောဘုရား၏ ဤစကားများကို ကြားနာပြီး၍ ဘုန်းတော်ကြီးသော ဘုရား၏ မျက်လုံးမှ ခိုင်မာပြတ်သားသော ပိုင်းဖြတ်မှုကို မြင်ရပြီး နောက်၌ ကား "လူကသာ နိုင်ငံခြားသားဖြစ်၍ နှလုံးသားနှင့် ဝိညာဉ်က ရုရှား လူမျိုးဖြစ်သည်"ဆိုသော မိရှာသည် ထိုလေးနက် တည်ကြည်သောအချိန်၌ ကြားရသောစကား များအတွက် ဖရဏာပီတိ ဂွမ်းဆီထိသည့်ပမာ ခံစားရလျက် (နောင်၌ မိရှောက ထိုအတိုင်း ပြောလေ့ရှိသည်။) မိမိခံစား ချက်နှင့်တကွ ၎င်း ကိုယ်စားပြုလျက် ရှိသည်ဟု ယူဆထား သော ရုရှားလူမျိုးတို့၏ ခံစားချက်များကို အောက်ပါစကား များဖြင့် ဖော်ထုတ်ပြသခြင်း ပြုလေသည်။

"လျှောက်ဝံ့ပါသည်ဘုရား။ ဘုန်းတော်ကြီးမြတ် တော်မူသော ဘုရင်မင်းမြတ်သည် ယခုအချိန်၌ ရုရှား လူမျိုးတို့၏ ဂုဏ်ကျက်သရေနှင့် ဥရောပတိုက်ကြီး လွတ် မြောက်ရေးတို့၏ အမှတ်လက္ခဏာပင် ဖြစ်ပါသည်ဘုရား"

ဘုန်းတော်ကြီးသောဘုရားသည် ခေါင်းညွှတ်၍ ညီလာခံကို ရုပ်သိမ်းတော်မူသတည်း။

## အခန်း ၄

ရုရှားနိုင်ငံကြီး၏ တစ်ဝက်ကို ရန်သူတို့ သိမ်းပိုက်ထား ချိန်၊ ရုရှားလူမျိုးတို့ တောအုံကန္တား ဇနပုဒ်ဖျားသို့ ထွက် ပြေးတိမ်းရှောင်လျက် ရှိချိန်၊ အဖနိုင်ငံကြီး ကာကွယ်ရေး အတွက် အခွန်အကောက်များကို တစ်မျိုးပြီးတစ်မျိုး ကောက်ခံလျက် ရှိချိန်၌ ကြီးကျယ်ထင်ရှားသော ပုဂ္ဂိုလ်မှ အနုညာတပုဂ္ဂိုလ်အထိ ရှိရှိသမျှသော ရုရှားလူမျိုးတို့သည် အဖနိုင်ငံတော်ကြီးအတွက် အစစအရာရာ စွန့်လွှတ်လျက် ရှိကြလိမ့်မည်။ အဖနိုင်ငံတော်ကြီးကို ကယ်တင်လျက် ရှိကြလိမ့်မည်။ အဖနိုင်ငံကြီး ပျက်သုန်းရခြင်းအတွက် ငိုကြွေးလျက် ရှိကြလိမ့်မည်။ အခြား မည်သည့် အရာကိစ္စ ( ကိုမျှ စိတ်ဝင်စားခြင်းရှိမည် မဟုတ်ဟု ထိုခေတ်ကြီးကို သိမီလိုက်ခြင်း မရှိသော ကျွန်ုပ်တို့ နှောင်းလူများက ထင် မှတ်ကြမည်သာ ဖြစ်ပါသည်။ ထိုခေတ်ကြီးနှင့် စပ်လျဉ်း သော ပုံပြင်များ၊ အရေးအသားများတွင်လည်း ရုရှားလူမျိုးတို့ ၏ ကိုယ်ကျိုးစွန့်တတ်ပုံ၊ ဇာတိမာန်စိတ်ဓာတ်ထက် သန်ပုံ၊ စိတ်ပျက်အားငယ်ခြင်း ဖြစ်ကြရပုံ၊ ဝမ်းနည်း ပူ ဆွေးကြရပုံ၊ အာဇာနည်ပီသပုံတို့ကိုသာ ရှွန်းရှွန်းဝေအောင် ဖော်ပြထားခြင်းကို တွေ့ရပါသည်။ သို့ရာတွင် တကယ် ၌ကား ထိုသို့ မဟုတ်ချေ။ လူတို့တွင် ရှိတတ်သော ပုဂ္ဂလိက အကျိုးစီးပွားလောက်ကိုသာ ကြည့် တတ်သည့် သဘောကို မမြင်ဘဲ ထိုခေတ်ကြီးတစ်ခေတ်လုံး၏ ယေဘုယျရာဇဝင် အကျိုးစီးပွားကို ခြုံငုံကြည့်မြင်ခြင်းကြောင့်သာ ထိုခေတ် က လူများသည် ကိုယ်ကျိုးစွန့်ကြလိမ့်မည်၊ အဖနိုင်ငံ တော်အတွက် ငိုကြွေးလျက်ရှိကြလိမ့်မည်၊ အဖနိုင်ငံတော် အတွက် ငိုကြွေးလျက်ရှိကြလိမ့်မည်ဟု ထင်မှတ်နေခြင်း ဖြစ်ပါသည်။ သို့ရာတွင် တကယ်၌မူ ထိုယာယီမျှသာ ဖြစ်သော ပုဂ္ဂလိက အကျိုးစီးပွားလောက်ကိုသာ ကြည့် တတ်သည့်သဘောသည် ယေဘုယျအကျိုးစီးပွားကို ကြီးစွာ ဖုံးအုပ်လျက်ရှိရကား ပရအကျိုးစီးပွားသည် ပုဂ္ဂလိက အကျိုးစီးပွား၏အောက်တွင် စမ်းသပ်ကြည့်မြင်၍ မရနိုင် လောက်အောင် နစ်မြုပ်ပျောက်ကွယ်လျက် ရှိသည်။ ထိုအချိန်က အများစုကြီးသည် အဖြစ်အပျက်များ၏ ယေဘုယျဖြစ်ပေါ်မှု

ကို ဆိတ်စာမျှပင် သတိမမူကြဘဲ မိမိတို့၏ ကိုယ်ကျိုးကိစ္စများ၌သာ နစ်မြုပ်လျက် ရှိကြ လေသည်။ သို့ရာတွင် ထိုသို့ ကိုယ်ကျိုးကိစ္စကို ကြည့်၍ လှုပ်ရှားဆောင်ရွက် ကြခြင်းသည်ပင်လျှင် ထိုအချိန်တွင် နိုင်ငံအတွက် အသုံးအဝင်ဆုံး ဖြစ်လျက် ရှိ လေသည်။

အဖြစ်အပျက်များ၏ ယေဘုယျလမ်းကြောင်းကို သိနားလည်ရန် ကြိုးပမ်း အားထုတ်သူများ၊ ကိုယ်ကျိုးစွန့် စင် စိတ်ဓာတ်၊ အာဇာနည်စိတ်ဓာတ် စသည်တို့ ဖြင့် အဖြစ် အပျက်များတွင် ပါဝင်ဆောင်ရွက်ခဲ့သူများကား လူ့အဖွဲ့ အစည်းတွင် အသုံးမဝင်ဆုံးသောသူများ ဖြစ်လျက်ရှိခြင်း ကို တွေ့ရလေသည်။ ၎င်းတို့သည် အရာဝတ္ထုများကို ပြောင်းပြန်ကြည့်မြင်ကြသည်။ ထို့ကြောင့် အများပြည်သူ တို့၏ ကောင်းကျိုးချမ်းသာအတွက် ၎င်းတို့ဆောင်ရွက် ချက်ဟူသမျှမှာလည်း အသုံးမ ဝင် အချည်းနှီးဖြစ်သော မိုက်မဲသော အပြုအမူများသာ ဖြစ်လာခဲ့ကြလေသည်။ ရုရှားကျေးရွာများကို လုယက်ဖျက်ဆီးခြင်းပြုခဲ့ကြသည့် ပီယာနှင့် မာမိုနေ့ဘ်တို့၏ အရေးပေါ်စစ်သည်စု တပ်ရင်း များ၏ အပြုအမူများ၊ ဒဏ်ရာရသူများထံသို့ မည် သည့် အခါမျှ ရောက်မလာတော့သော ဆေးပစ္စည်းများကို လက် ဆောင်ပါးလိုက် ကြသည့် ရုရှားလုံမငယ်တို့၏ အပြုအမူ များ စသည်တို့ကို ကြည့်ခြင်းအားဖြင့် ဤ အချက်ကို သိနိုင်ပေသည်။ စကားဝိုင်းတွင် အငြိမ့်သား ထိုင်ကာ သဂြိုဟ် အဘိဓမ္မာ စသည်တို့ကို အာပေါင်အာရင်းသန်သန် ပြောရင်း ထိုခေတ်က ရုရှားနိုင်ငံ ကြီး၏ အခြေအနေကို ဝေဖန်ဆွေးနွေးကြသူတို့ကပင်လျှင် ထိုသို့ အများကောင်း ကျိုးချမ်းသာကို ဆောင်ရွက်ခြင်းသည် ဟန်ရေးပြခြင်းမျှသာ ဖြစ်သည်ဟု လည်းကောင်း၊ မိုက်မဲမှုသာ ဖြစ်သည်ဟု လည်းကောင်း အကြောင်းမဲ့ အပြစ်ရှာ ကာ အကောင်းပြော ဖော်မရကြချေ။ အသိဉာဏ်ပညာတည်းဟူသော အပင်မှ အသီးကို မစားလေနှင့်ဟူသော ပညတ်ချက်သည် ရာဇဝင် အဖြစ် အပျက်များ

အတွက် အထူးရည်ညွှန်းပြောဆိုခဲ့လေ သလောဟုပင် ထင်ရလေတော့သည်။ ရာဇဝင်အဖြစ် အပျက်များ၌ သိစိတ်မရှိဘဲ ပြုလုပ်သည့် ဆောင်ရွက်ချက် များသာ အရာထင်တော့သည်။ ရာဇဝင်အဖြစ်အပျက်များ၌ ကိုယ်တိုင်ကိုယ်ကျ ပါဝင် ဆောင်ရွက်လာသည်နှင့်အမျှ ရာဇဝင် အဖြစ်အပျက်တို့၏ အရေးကြီးပုံကို နားလည်ဖို့ ခက်လေလေဖြစ်တော့သည်။ ရာဇဝင် အဖြစ်အပျက်တို့၏ အရေးကြီး ပုံကို နားလည်သဘောပေါက်ရန် ကြိုးစားသည် နှင့်အမျှ ကြိုးပမ်းမှုဟူသမျှသည် အချည်းနှီး အကျိုးမဲ့သာ ဖြစ်ရတော့သည်။

ထိုစဉ်က ရုရှားနိုင်ငံတွင် ဖြစ်လျက်ရှိသော အဖြစ် အပျက်တွင် တက်ကြွ ထက်သန်စွာ ပါဝင်ဆောင်ရွက်လေ လေ၊ ထိုသူသည် ထိုအဖြစ်အပျက်တို့၏ အဓိပ္ပာယ်ကို  နားလည်ရန် ခက်လေလေ ဖြစ်တော့သည်။ ပီတာစဘတ် မြို့တော်နှင့် မော်စကိုမှဝေးရာ တိုင်းစွန်ပြည်ဖျားဒေသ များ၌ အမျိုးသမီးများ၊ အရေးပေါ်စစ်သည်စုဝတ်စုံကို ဝတ်ထားသည့် သူကောင်းမျိုးများသည် ရုရှားနိုင်ငံ ကြီးနှင့် ၎င်း၏ ရှေးဟောင်းမြို့တော် မော်စကိုမြို့ကြီးအတွက် မချိတင်ကဲ ဝမ်းနည်း လှိုက်လှဲစွာ ငိုကြွေးခြင်းပြုကြ၏။ တိုင်းပြည်နှင့် လူမျိုးအတွက် အစစအရာရာကို စွန့်လွှတ် ရမည်ဟု ပြောဆိုခြင်း ပြုကြ၏။ သို့ရာတွင် မော်စကိုမှ ဆုတ်ခွာလာခဲ့သော ရုရှားတပ်မတော်ကြီးအတွင်း၌ကား မော်စကိုမြို့ကြီး၏ ကံကြမ္မာကို တွေးတောခြင်းလည်း မပြု၊ ပြောဆိုခြင်းလည်းမရှိ၊ မော်စကိုမြို့ကြီး မီးဟုန်း ဟုန်းတောက်လျက် ရှိခြင်းကို မြင်ရသည့်အခါ၌ ပြင်သစ် တို့ကို လက်စားချေအံ့ဟု ကြုံးဝါးသံပပြုခြင်းလည်း မရှိ ကြဘဲ လစာထုတ်ရက်၊ နောက် ချရပ်မည့်တပ်စခန်း၊ တပ် ဝင်းထဲမှ ဈေးသည်အပျိုချောချောကလေးများ စသည့် ကိစ္စများလောက်ကိုသာ တွေးတောလျက် ရှိကြလေသည်။

စစ်ပွဲကြီးဖြစ်ပွားလာချိန်၌ နီကိုလေမှာ စစ်မှုထမ်း ဘဝတွင် ရောက်လျက်ရှိသည့်အတွက် ရုရှားနိုင်ငံ ကာကွယ် ရေးကိစ္စတွင် ရှေ့တန်းကျသောနေရာမှ ပါဝင်ခဲ့ရလေသည်။ သို့ရာတွင် နီကိုလေ ထိုသို့ပါဝင်ခဲ့ခြင်းမှာ အမိတိုင်းပြည် ကြီးအတွက် စွန့်လွှတ်ရမည်ဟူသော ရည်ရွယ်ချက်ဖြင့် မဟုတ်ဘဲ မတော်တဆ ကြုံကြိုက်တိုက်ဆိုင်၍ ပါဝင်ခဲ့ ခဲ့ခြင်းသာ ဖြစ်သဖြင့် ရုရှားနိုင်ငံတွင် ဖြစ်ပျက်နေသော အခြေအနေကို ကြည့်မြင်ရာ၌ စိတ်ပျက်ခြင်းလည်း မဖြစ် မိ၊ ၎င်းအတွက် ဦးနှောက်ရှုပ်ခြင်းလည်း မဖြစ်မိချေ။ ရုရှားနိုင်ငံကြီး၏ အခြေအနေနှင့် ပတ်သက်၍ မည်သို့ထင် မြင်သနည်းဟု မေးလာခဲ့လျှင်လည်း ထိုကိစ္စကို တွေးတော စဉ်းစားခြင်း ပြုရန်မှာ မိမိအလုပ်မဟုတ်ကြောင်း၊ ထိုကိစ္စ မှာ ဗိုလ်ချုပ်ကူတူဇော့ဗ်နှင့် တပ်မတော်အကြီးအကဲများ၏ ကိစ္စကိုသာ ဖြစ်ကြောင်း၊ သို့ရာတွင် တပ်ရင်းများကိုမူ တပ်သားအပြည့် တိုးချဲ့မည်ဟု ကြားသိရကြောင်း၊ စစ်ပွဲ မှာ ရှည်ကြာလိမ့်မည်ဟု ထင်ရကြောင်း၊ ထို့ကြောင့် ၂နှစ်လောက်ကြာလျှင် မိမိသည်လည်း တပ်ရင်းမှူးဖြစ်ဖွယ် ရှိကြောင်း စသည်ဖြင့် ပြောဆိုခြင်း ပြုမည်သာ ဖြစ်လေ သည်။

နီကိုလေသည် ပြဿနာအရပ်ရပ်ကို ဤသို့ကြည့်  မြင်သူဖြစ်ရကား မိမိ၏ တပ်မကြီးအတွက် ဗိုရိုနက်ဇ်သို့ - သွားရောက်၍ မြင်းသစ်များ ဝယ်ယူရမည်ဟု ကြားသိရ သည့်အခါ၌ ဖြစ်ပွားအံ့ဆဲဆဲ တိုက်ပွဲကြီးတွင် ဝင်မနွှဲ လိုက်ရလေခြင်းဟု ယူကျုံးမရ မဖြစ်ရုံမျှမက အလွန်အကျူး ဝမ်းမြောက်လျက် ရှိလေသည်။ ထိုသို့ ဝမ်းသာလျက်ရှိ ခြင်းကို နီကိုလေကိုယ်တိုင်ကလည်း ဖုံးကွယ်ခြင်းမပြု သည့်ပြင် ၎င်း၏ ရဲဘော်များကလည်း ဝမ်းသာမည်ဆို က ဝမ်းသာထိုက်ပေသည်ဟု ကောင်းစွာ နားလည်သဘော ပေါက်ကြသည်သာ ဖြစ်လေသည်။

ဘိုရိုဒီတိုက်ပွဲကြီး မဖြစ်ပွားမီ ရက်အနည်းငယ် ခန့်အလို၌ နီကိုလေသည် မြင်းဝယ်ရန်အတွက် လိုအပ် သောငွေများနှင့် အမိန့်စာများကို ဆိုင်ရာမှ ရရှိခဲ့

သည်။ ဤတွင် နီကိုလေသည် မြင်းတပ်သားအချို့ကို ရှေ့ပြေး အဖြစ် လွှတ်လိုက်ပြီးနောက် မြင်းထောက်များဖြင့် ဗိုရိုနက်ဇ် သို့ ထွက်လာခဲ့လေသည်။

တပ်အသီးသီးမှ မြင်းစာရှာထွက်ကြသော တပ်စု များ ရိက္ခာတင် လှည်းတန်းကြီးများ၊ တပ်စခန်းဆေးရုံ များဖြင့် ပြန့်ကြဲလျက်ရှိသော တပ်နယ်မြေမှ လွတ်မြောက် လာသည့်အခါတွင် နီကိုလေ ခံစားရသည့် ဝမ်းသာကြည် နူးမှုကား ဆိုဖွယ်မရှိတော့ချေ။ တိုက်ပွဲများ၊ စစ်ပွဲများ ပတ်ဝန်းကျင်တွင် ရက်ရှည်လများ နေခဲ့ဖူးသူတို့သာလျှင် နီကိုလေ၏ ခံစားမှုကို နားလည်နိုင်ပေလိမ့်မည်။ တပ်သားများ၊ ဝန်တင်လှည်းများ၊ တပ်စခန်းတစ်ခုတွင် မြင်တွေ့ ရတတ်သော ညစ်ပတ်ပေကျံသည့် ရှုခင်းများကို လွှန် မြောက်၍ လယ်သမားများနှင့် လယ်သူမများ၊ သူကောင်း မျိုးတို့၏ ကျေးလက်စံအိမ်ကလေးများ၊ ကျွဲနွားများလှန် ထားသည့် စားကျက်များ၊ စခန်းမှူးများ အိပ်ငိုက်လျက် ရှိရာ ချောထောက်စခန်းများကို ယခုမှစတင်တွေ့ ဖူးသည့် နှယ် ရွှင်လန်းကြည်နူးခြင်း ဖြစ်မိ၏။ အထူးသဖြင့် နီကိုလေကို အံ့သြဝမ်းမြောက်စေသည့်အရာကား ၎င်းတို့ အနီးတွင် စစ်ဗိုလ်တစ်ဒါဇင်လောက် ဝန်းရံခြင်းမခံရဘဲ လွတ်လပ်စွာ သွားလာလှုပ်ရှားနေကြသည့် ငယ်ရွယ်နုနယ် ၍ ကျန်းမာသန်စွမ်းသော မိန်းမပျိုကလေးများ၊ မိမိတို့ အား မြင်းဖြတ်စီးသွားသည့် တပ်ဗိုလ်တစ်ယောက်က နောက်ပြောင် ကျီစယ်သွားသည်ကို ဝမ်းသာဂုဏ်ယူလျက် ရှိသည့် မိန်းမပျိုကလေးများပင် ဖြစ်လေသည်။ နီကိုလေသည် ရွှင်ပြမြူးထူးလျက်ရှိသော စိတ်ဖြင့် ဗိုရိုနက်ဇ်မြို့ကလေးရှိ တည်းခိုခန်းတစ်ခုသို့ ညဥ့်အချိန် တွင် ရောက်၏။ တပ်စခန်းတွင် ကာလရှည်ကြာစွာ မှီဝဲ သုံးဆောင်ခြင်း မပြုခဲ့ရသောအရာတို့ကို သုတ်သင်၍ ကာလအတန်ကြာမျှ ဝတ်ဆင်ခြင်းမပြုခဲ့သော တပ်ဗိုလ် ဝတ်စုံကို အပြည့်အစုံ ဆင်ယင်ပြီးသော် ဆိုင်ရာအာဏာ ပိုင်တို့နှင့် သွားရောက်တွေ့ဆုံခြင်း ပြုလေသည်။

ထိုနယ်ရှိ အရေးပေါ် စစ်သည်စုတပ်ဖွဲ့ များ၏ တပ်မှူးမှာ အရပ်သား ဗိုလ်ချုပ်တစ်ယောက်ဖြစ်၍ မိမိ၏ စစ်ဘက်ရာထူးအဆင့်အတန်းကို ကျေနပ်လျက် ရှိပုံရသော အဘိုးကြီးတစ်ဦး ဖြစ်သည်။ ထိုအရပ်သား ဗိုလ်ချုပ်သည် နီကိုလေကို ခပ်ပြတ်ပြတ် ခပ်တင်းတင်း ဆီးကြိုလက်ခံ ၍ (၎င်း၏စိတ်၌ စစ်ဗိုလ်စစ်သားဟူသည် ဤသို့ဆက်ဆံ ရမည်ဟု ထင်နေပုံရပါသည်။) ၎င်း၏အောက်တွင် အမှု ထမ်းသော တပ်ဗိုလ်တစ်ဦးသဖွယ် နီကိုလေကို အရေး တကြီး မေးမြန်းစူးစမ်းခြင်းပြုကာ တိုင်းပြည်ကြီးတစ်ခု လုံး၏ အရေးကိစ္စများကို သူဝင်ရောက်ဖြေရှင်းမှ ပြီးတော့ မည့်နှယ် လွန်စွာ အရေးကြီးဟန်ကို ဆောင်လျက်ရှိ၏။ နီကိုလေမှာ ထိုအချိန်က စိတ်လက်ပေါ့ပါး ရွှင်မြူးလျက် ရှိသည့်အလျောက် ထိုအရပ်သား ဗိုလ်ချုပ်၏ဟန်ကို ကြည့် ၍ ရယ်ချင်ပက်ကျိပင် ဖြစ်မိသေးသည်။

နီကိုလေသည် ထိုအရပ်သားဗိုလ်ချုပ်နှင့် ပြောဆို ပြီးနောက် ဗိုရိုနက်ဇ်မြို့ဝန်ထံသို့ ထွက်လာခဲ့သည်။ မြို့ ဝန်မှာ အလုံးအဖန်သေးသေး၊ ခပ်သွယ်သွယ်ဖြစ်၍ ရိုးသား ဖော်ရွေသူတစ်ဦး ဖြစ်သည်။ ၎င်း၏ မြင်းသစ်များ ဝယ် ယူရနိုင်မည့် ဌာနများကို လက်ထောက်ချပြီးနောက် ဗိုရို နက်ဇ်မြို့ထဲရှိ မြင်းကုန်သည်တစ်ဦးနှင့် မြို့မှ ဆယ့်လေး မိုင်အကွာတွင် နေသည့် မြင်းကောင်းမြင်းသန့်များ မွေး သည့် မြေပိုင်ရှင်တစ်ဦးထံသို့လည်း သွားရောက် စုံစမ်း ခြင်းပြုပါရန် လမ်းညွှန်လိုက်သည်။ တတ်နိုင်သမျှ ကူညီ ပါမည်ဟုလည်း ကတိပြုလိုက်သည်။

“ဗိုလ်လေးက မြို့စားကြီးရော့စတော့ဗ်ရဲ့ သား ကိုး။ ကျုပ်ဇနီးနဲ့ ဗိုလ်လေးရဲ့ မယ်တော်ကြီးတွေဆိုတာ အလွန်ရင်းနှီးတဲ့ မိတ်ဆွေတွေပဲဗျ။ ကြာသပတေးနေ့တွေ ဆိုရင် ကျုပ်တို့လည်း အိမ်မှာရှိကြပါတယ်။ ဒီနေ့ ကြာသ ပတေးနော်။ မိတ်ဖြစ်ဆွေဖြစ် ညနေကျရင် အလည်လာ ခဲ့ဗျာ။ ဟုတ်စ”

မြို့ဝန်က နီကိုလေကို နှုတ်ဆက်ရင်း ဖိတ်မန္တက ပြုလိုက်၏။

မြို့ဝန်အိမ်မှ ပြန်ရောက်လာသည်နှင့် နီကိုလေ သည် ချောက်ထောက်မြင်းများကို ငှားရမ်းကာ ၎င်း၏ တပ်ခွဲတပ်ထောက်နှင့်အတူ မြို့ပြင်ဘက် ဆယ့်လေးမိုင် အကွာရှိ မြင်းသန့်များမွေးရာ မြင်းဇောင်းသို့ ဒုန်းစီး၍ လာခဲ့ကြသည်။ ဗိုရိုနက်ဇ်တွင် ရောက်ရှိနေသည့် အတော အတွင်း၌ အရာရာတိုင်းသည် နီကိုလေအတွက် အဆင် ပြေလျက် ရှိလေသည်။ စိတ်လက်ကြည်လင် ပေါ့ပါးလျက် ရှိစဉ် တွေ့ကြုံရမြဲ ထုံးစံအတိုင်း အစစအရာရာ ချောမွေ့ ဖြောင့်ဖြူးလျက် ရှိလေသည်။

နီကိုလေ သွားရောက်သည့် မြေပိုင်ရှင်မှာ လူပျို ကြီးတစ်ဦးဖြစ်၏။ ၎င်းမှာ ယခင်က မြင်းတပ်ဗိုလ်ဟောင်း တစ်ဦး၊ မြင်းအလှမွေး ဝါသနာပါသူတစ်ဦး၊ တောလိုက် ဝါသနာပါသူတစ်ဦး ဖြစ်ရုံမျှမက နှစ်တစ်ရာကြာမှ သိုမှီး ထားသော ဘရန်ဒီနှင့် ဟန်ဂေရီဝိုင်အရက်များရှိသူ တစ်ဦး လည်း ဖြစ်၏။ ထို့ပြင် အရက်သောက်ရာ ခန်းဆောင် တစ်ခုနှင့် မျိုးသန့်မြင့်များကို ပိုင်ဆိုင်သူတစ်ဦးလည်း ဖြစ်လေသည်။

စကားတစ်ခွန်းနှစ်ခွန်း ပြောပြီးနောက် လက်ရွေး စင် စစ်မြင်းကြီးဆယ်ခြောက်ကောင်ကို ဒင်္ဂါးခြောက် ထောင်ဖြင့် ဈေးတည့်ကြသည်။ ထိုစစ်မြင်းကြီးများမှာ မြင်းသစ်များ နောက်ထပ် ဝယ်ယူရာ၌ နမူနာထားရမည့် မြင်းကြီးများ ဖြစ်သည်ဟု နီကိုလေက ဆိုလေသည်။ ည စာနှင့် ဟန်ဂေရီ ဝိုင်အရက်အတော်များများ ဝင်သွားပြီး သည်နှင့် နီကိုလေသည် တစ်မုဟုတ်ချင်း မိမိ၏ ရောင်း ရင်းမိတ်ဆွေကြီး ဖြစ်လာသည့် မြေပိုင်ရှင်နှင့် အပြန် အလှန် နမ်းရှုပ်နှုတ်ဆက်ကာ အထူးတလည် စိတ်လက် ပေါ့ပါးစွာဖြင့် စိတ်ပျက်ဖွယ်ကောင်းလှသော လမ်းတစ်လျှောက် မြင်းရထားကို ဒုန်းမောင်းပြန်လာခဲ့သည်။ မြို့ ဝန်၏ ညနေခင်းဧည့်ခံပွဲသို့ အမိမောင်းရန် လမ်းတွင် ရထားသမားကို တဖွဖွသတိပေးလျက် ရှိသည်။

တည်းခိုခန်းသို့ရောက်လျှင် အဝတ်အစားလဲ၊ ခေါင်းကို ရေဆွတ်၊ ကိုယ်ကို အမွှေးနံ့သာ ပက်ဖျန်းပြီး သော် နီကိုလေသည် မြို့ဝန်အိမ်သို့ နီကိုလေ ရောက်

သောအခါတွင် အချိန်အနည်းငယ် နှောင်းနေလေပြီ။ သို့ရာတွင် "မရောက်တာနဲ့ စာရင် နောက်ကျတာက တော် သေးတယ်"ဟူသော စကားကိုမူ နှုတ်က မချတော့ချေ။

ထိုညေ့ခံပွဲတွင် ကပွဲမပါချေ။ ကပွဲထည့်ရန်လည်း အစီအစဉ် မရှိချေ။ သို့ရာတွင် ကက်သရင်းပီထရိုဗနာ က ဝေါ့ဇ်နှင့် အီကိုသေဆီ သီချင်းကြီးများကို ရှေးစန္ဒရား ကြီးဖြင့် တီးပြလိမ့်မည်ဟု လည်းကောင်း၊ ကပွဲဖြစ်လိမ့် မည်ဟု လည်းကောင်း အားလုံးက သိထားကြသည့် အလျောက် ကပွဲတစ်ခုသို့ တက်ရောက်သည့်နှယ် ပြင်ဆင် ဝတ်စားလာကြသည်။

၁၈၁၂ ခု ရုရှားပြည် ကျေးတောဘဝကား ခါတိုင်း ကဲ့သို့ပင်ရှိသော်လည်း မော်စကိုမှ လူချမ်းသာများ စစ်ပြေး ရောက်လာကြသည့်အတွက် တောမြို့ကလေး များတွင် လှုပ်လှုပ်ရွရွဖြစ်နေခြင်း၊ ထိုခေတ်က ရုရှားပြည် နေရာ အနှံ့အပြားတွင် တွေ့ရတတ်သကဲ့သို့ "မည်သူလာလာ မျောက်လောင်း၊ မျောက်လောင်းသာ တကား"ဟူသော ရေစုန်မျှောသည့် စိတ်ဓာတ် လွှမ်းမိုးလျက်ရှိခြင်း၊ နီးစပ် ရာအစု ကလေးများ စကားဝိုင်းဖွဲ့ကြရာ၌ ခါတိုင်းကဲ့သို့ ရာသီဥတုနှင့် မိတ်ဆွေသင်္ဂဟ အကြောင်းများကို ပြောဆို ခြင်းမပြုကြဘဲ မော်စကိုမြို့ မီးလောင်ပုံနှင့်တကွ တပ်မတော်ကြီးနှင့် နပိုလီယန်အကြောင်းကို ဝေဖန်ပြောဆို လျက် ရှိကြခြင်း စသည့် ထူးခြားချက်ကလေးများကိုကား တွေ့ရလေသည်။

မြို့ဝန်အိမ်တွင် တွေ့ရသော မင်းပရိသတ်တို့မှာ ဗိုရိုနက်ဇ်မြို့ကလေးမှ အထက်တန်းလွှာများ ဖြစ်လေသည်။

ထိုညေ့ခံပွဲ၌ အမျိုးသမီးတော်တော်များများနှင့် မော်စကိုမှ နီကိုလေ၏ မိတ်ဟောင်းဆွေဟောင်းအချို့ကို လည်း တွေ့ရ၏။ သို့ရာတွင် စိန့်ဂျော့တံဆိပ်တော်ကြီး ကို ရရှိထားလျက် မြင်းသစ်ရှာရန် တာဝန်ကျသည့် မြင်း တပ်ဗိုလ်ကလေး

တစ်ဦးဖြစ်ရုံမက စိတ်သဘောကောင်း၍ မျိုးကြီးဆွေကြီးမှ ဆင်းသက်လာသူ မြို့စားလေးနီကိုလေ ကို ယှဉ်ပြိုင်နိုင်သည့် ယောက်ျားပျိုဟူ၍ကား တစ်ယောက်မျှမရှိချေ။ ယောက်ျားပရိသတ်ထဲ၌ ပြင်သစ်တပ်မတော် အရာရှိတစ်ဦးဖြစ်သူ အီတလီလူမျိုး၊ သံ့ပန်းတစ်ဦးလည်း ပါဝင်လေရာ ၎င်းပါဝင်နေခြင်းသည် ရုရှားလူမျိုးစစ်သူ ရဲကောင်းတစ်ဦးအဖြစ် မိမိ၏ မျက်နှာပန်းပွင့်နေပုံကို ပို၍ လေးနက်ထင်ရှားအောင် ပြုလုပ်ပေးသည့်နှယ် ရှိတော့ သည်ဟူ၍ပင် နီကိုလေ ထင်လိုက်မိသေးသည်။ အမှန်အား ဖြင့်လည်း အီတလီအရာရှိမှာ တိုက်ပွဲတွင် ရမိခဲ့သည့် လက်ရပစ္စည်းတခ်ခု' မဟုတ်ပါလော။ နီကိုလေ၏စိတ်၌ ထိုသို့ သဘောထားက အားလုံးကလည်း အီတလီအရာရှိ ကို မိမိကဲ့သို့ပင် သဘောထားသည်ဟု နီကိုလေ ထင်မိ လေသည်။ ထို့ကြောင့် နီကိုလေသည် အီတလီ အရာရှိကို ဆက်ဆံရာတွင် ဖော်ရွေပျူငှာခြင်း ရှိသော်လည်း ဖက်လှဲ တကင်းမပြုဘဲ သိက္ခာရှိရှိ ခပ်မှန်မှန် ဆက်ဆံခြင်း ပြုလေ သည်။

မိမိ၏ ပတ်ဝန်းကျင်တွင် ရေမွှေးနံ့နှင့် ဝိုင်အရက် နံ့တို့ သင်းပျံ့မွှေးကြိုင်ဝေ၍ ပါးစပ်ကလည်း "မလာတာနဲ့ စာရင် နောက်ကျတာက တော်သေးတာပေါ့ဗျာ" ဟူသော စကားကို တဖွဖွပြောဆိုရင်း မြင်းတပ်ဗိုလ်ဝတ်စုံ အပြိုင် သားဖြင့် နီကိုလေ ဝင်ရောက်လာသည့်အခါ၌မူ ပရိသတ် များမှာ နီကိုလေ၏ အနီးတွင် ဝိုင်းအုံလျက် ရှိကြလေပြီး။ မင်းပရိသတ်များ၏ မျက်လုံးများသည် နီကိုလေဆီသို့ စူးစိုက်လျက် ရှိကြ၏။ ထိုအခါ၌ "ပျိုတိုင်းကြိုက်တဲ့ နှင်းဆီခိုင်'တည်းဟူသော မိမိ၏ နေရာမှန်ကို ဤတော မြို့ကလေးတွင်လည်း ရရှိပြန်လေပြီဟု နီကိုလေ သည် ချက်ချင်း သတိပြုလိုက်မိ၏။ ရက်ရှည်လများတပ်ထဲ၌ နေခဲ့ရပြီးနောက် ယခုကဲ့သို့ "ပျိုတိုင်းကြိုက်တဲ့ နှင်းဆီ ခိုင်' အဖြစ်သို့ ရောက်ရခြင်းကား လွန်စွာ ကြည်နူးဖွယ် ကောင်းရုံမျှမက ဘဝင်မြင့်မည်ဆိုကလည်း မြင့်ထိုက်သည် သာ ဖြစ်ပါသည်။ ချောထောက်စခန်းများ၊ ထမင်းဆိုင် ကလေးများနှင့် တောမြေပိုင်ရှင်

တို့၏ အရက်စခန်း၌ အဝေခံ အပျိုမကလေးများသည် ၎င်းတို့အား နီကိုလေက ဂရုတစိုက် သတိရခြင်းအတွက် ဂုဏ်ယူကျေနပ်ကြသည့် နည်းတူ မြို့ဝန်၏ ယခု ညေ့ခံပွဲ၌လည်း မိမိ၏ အရေးယူ ခြင်းကို သူ့ထက်ငါ အလုအယက်ခံယူလိုကြသည့် အပျို အအို အချောအလှတို့မှာ (နီကိုလေ့အထင်) ရိုက်သတ်၍ မကုန်နိုင်အောင် များပြားလှသည်။ လင်ရှိမိန်းမများနှင့် မိန်းပျိုကလေးများကလည်း နီကိုလေနှင့် ပ လူးပလဲလုပ် ကြ၏။ နီကိုလေ ရောက်လာသည့်နေ့ကစ၍ လူကြီးပိုင်း ကလည်း ဤခန့်ညားပျို့ရွယ်သော ခပ်ရမ်းရမ်း မြင်းတပ် ဗိုလ်ကလေးကို အိုးအိမ် အတည်တကျ ဖြစ်စေချင်ကြသည်။  ထိုအထဲ၌ နီကိုလေကို ဆွေမျိုးရင်းချာတစ်ဦး သဖွယ် ဆီး ကြိုကာ နာမည်ကို ရင်းရင်းနှီးနှီး ခေါ်လေ့ရှိသည့် မြို့ ဝန်ကတော် လည်း ပါဝင်လေသည်။

ထိုညေ့ခံပွဲ၌ အများမျှော်လင့်ထားသကဲ့သို့ ကက် သရင်းပီထရိုဗနာကလည်း ဝေါ့ဇ်နှင့် အီကိုဆေးဆိသိချင်း ခံကြီးများကို ရှေးစန္ဒရားကြီးဖြင့် တီးပြလေရာ ကပွဲ စသည် ၌ နီကိုလေမှာ ၎င်း၏သွက်လက်ဖျတ်လတ်သောကဟန် ကြောင့် တောမြို့ အထက်တန်းလွှာ မိန်းမပျိုကလေးများ ၏ အသည်းနှလုံးကို ဆွဲကိုင်လှုပ်သကဲ့သို့ ပင် ရှိတော့သည်။ ၎င်း၏ လွတ်လပ်သောကဟန်မှာ အံ့သြစရာပင် ကောင်း သေး တော့သည်။ ထိုနေ့ညနေက မိမိ၏ ကဟန်ကြောင့် နီကိုလေကိုယ်တိုင်လည်း အံ့ သြမိသည်။ နီကိုလေသည် မော်စကိုတွင် ဤသို့ လွတ်လွတ်လပ်လပ် တစ်ခါမျှ မက ဖူးခဲ့ချေ။ ထိုမျှမက ထိုသို့ စည်းလွတ်ဝါးလွတ်ကခြင်း သည် ရိုင်းစိုင်း၍ ပုံပျက်ပန်းပျက် နိုင်လှသည်ဟု ထင်ခဲ့ မည် ဖြစ်သော်လည်း ဤပွဲတွင်မူ ခပ်ဆန်း ဆန်းကလေး တော့ လုပ်ပြလိုက်မည်၊ တောမြို့ကလေးတွင် အသစ် အဆန်းဖြစ် နေသော်လည်း မြို့ကြီးများတွင် ထုံးစံဖြစ် နေသည်ဟု ၎င်းတို့က လက်ခံအတုယူ လာအောင် လုပ်ပြ လိုက်မည်၊ သို့ဖြင့် ၎င်းတို့အား တအံ့တသြဖြစ်ဝေမည် ဟူသော စိတ်ကလေးကလည်း ခေါင်းပြူးလာလေသည်။

ထိုတစ်ညနေလုံး နီကိုလေသည် မျက်လုံးပြားပြား ကိုယ်လုံးခပ်ဖွံ့ဖွံ့ အသားဖြူဖြူနှင့် တောမြို့အရာရှိကတော် လေးတစ်ဦးကို ပျက်ကျနေလေပြီ။ လင်ရှိမိန်းမတို့မည် သည် မိမိတို့ အပျင်းဖြေဖို့ ဖြစ်လာရသည်ဟူသော ခပ် မြူးမြူးလူရွယ်တို့၏ ရိုးသားစွာ ယုံကြည်ခြင်းမျိုးဖြင့် နီကိုလေသည် ထိုမိန်းမနှင့် တခ်ညနေလုံး တပူးတွဲတွဲလုပ် ကာ ထိုမိန်းမနှင့် မိမိတို့နှစ်ဦးကြားတွင် နားလည်မှုရပြီး နောက်ပျော်ပျော်ကြီး စခန်းသွားကြတော့မည်ဟု ထုတ် မပြောကြသည့်တိုင် ထိုအချက်ကို နှစ်ဦးစလုံးက သိရှိပြီး ဖြတ်သည့်နှယ် လင်ကြီးကို ဖော်ရွေစွာ ဆက်ဆံခြင်း ပြုလေသည်။ သို့ရာတွင် လင်ကြီးဖြစ်သူမှာကား နှစ်သက် ဟန်မတူဘဲ နီကိုလေကို သုန်မှုန်စွာ ဆက်ဆံခြင်းပြုလေ သည်။ သို့တိုင်အောင် နီကိုလေ၏ အမူအရာမှာ ရိုးသား ပုံပေါက်နေသဖြင့် လင်ကြီးဖြစ်သူမှာ နီကိုလေ၏ ပြက် လုံးကလေးများကို သဘောကျကာ တစ်ခါတစ်ရံ ရော ယောင်ရယ်မောမိသေးသည်။ သို့ရာတွင် တဖြည်းဖြည်း ညဥ့်နက်လာသောအခါ၌ကား ၎င်းတို့သုံးဦး၏ ထက်သန် ပျော်ရွှင်မှုသည် ကစားဝိုင်းတွင် အကန့်အသတ်ဖြင့် လည် ပတ်နေသည့် လောင်းကြေးသဖွယ် မယားလုပ်သူ၏ ရှေ့ မှ ဝေစုက တဖြည်းဖြည်းများလာသလောက် လင်လုပ် သူ၏ ဝေစုမှာ လျော့နည်းသည်ထက် လျော့နည်းလာခဲ့ လေပြီ။ မယား၏ မျက်နှာက ပို၍ နီရဲကာ ပို၍ထက်သန် မြူးထူးလာသလောက် လင်ဖြစ်သူ၏ မျက်နှာမှာ ပို၍ ညစ် မည်းကာ ပို၍ သုန်မှုန်လာခဲ့လေပြီ။

# အခန်း ၅

နီကိုလေသည် လက်တင်ထိုင်ဖုံပေါ်တွင် ရှေ့သို့ တိုးထိုင် လျက် အသားဖြူဖြူအရာရှိကတော်ကို ငုံ့ကြည့်ရင်း နူတ် ခမ်းပေါ်တွင် အမြဲရစ်ဝဲလျက်ရှိသော အပြုံးဖြင့် ၎င်းအား ဒဏ္ဍာရီထဲမှ အလှနတ်သမီးများနှင့် နှိုင်းယှဉ်ချီးကျူးပြော ဆိုလျက် ရှိလေသည်။

တင်းကျပ်သော် မြင်းစီးဘောင်းဘီထဲမှ ခြေထောက် များကို ဟန်ပါပါဖြင့် အနေအထားပြောင်းရင်း ရေမွှေးနံ့ ကို သင်းပျံ့စေလျက် ၎င်း၏အဖော် အရာရှိကတော်ကို လည်းကောင်း၊ မိမိကိုယ်ကို လည်းကောင်း၊ ခြေထောက် နှင့် အနေတော်ရှိသောဖိနပ်ထဲမှ ၎င်း၏ ပုံပန်းကျသော ခြေထောက်များကို လည်းကောင်း နီကိုလေသည် ကျေနပ် နှစ်သိမ့်လျက်ရှိရာမှ မိမိသည် ဗိုရိုနက်ဇ်မြို့ကလေးမှ တစ်ယောက်သော အမျိုးသမီးတစ်ဦးနှင့် ထွက်ပြေးလို ကြောင်းဖြင့် ပြောဆိုလျက် ရှိသည်။ "ဘယ်သူနဲ့လဲ"

"အလွန်ချစ်စရာကောင်းတဲ့ အမျိုးသမီးတစ်ဦးနဲ့ ခင်ဗျ။ ဘုံကြိုးပြတ်တဲ့ နတ်မိမတ်လေးတစ်ပါးပဲ ဆိုပါ တော့ သူ့မျက်လုံးတွေဟာ (နီကိုလေသည် အရာရှိကတော် ကို ကြည့်လိုက်သည်။) ပြာလဲ့လဲ့ခင်ဗျာ။ သူ့နှုတ်ခမ်းလေး တွေက သာလိုရဲပြီး သွားကလေးတွေက ဆင်စွယ်လို ဖြူတယ် ခင်ဗျ။ ပြီးတော့ သူ့ကိုယ်လုံးကလဲ (နီကိုလေက အရာရှိကတော်၏ ပခုံးသားများကို ကြည့်ပြန်သည်။) ဒိုင်ယာနာ အချစ်နတ်သမီးရဲ့ ကိုယ်ဟန်လို"

ထိုအခိုက် လင်လုပ်သူ ပေါက်လာကာ မည်သည့် အကြောင်းအရာများကို ပြောဆိုနေကြသနည်းဟု သုန် မှုန်စွာ မေးလိုက်သည်။

"သြော် ကြွပါခင်ဗျာ" ၎င်းပြောပြလျက်ရှိသည့် ပြက်လုံးကလေးကို လင်လုပ်သူပါ ဝင်ရောက်နားထောင် ကြည်နူးစေလိုသည့်နှယ် နီကိုလေက ယဉ်ကျေးစွာ ထ၍ ဖိတ်မန္တကပြုသည်။ ထို့နောက် မိမိသည် အသားဖြူဖြူ အမျိုးသမီးတစ်ယောက်နှင့် ထွက်ပြေးချင်စိတ်ပေါက်နေ ကြောင်းဖြင့် ပြောဆိုလျက် ရှိသည်။

လင်လုပ်သူက ချမ်းမြေ့ခြင်းကင်းစွာ ပြုံး၍ မယား က ခပ်မြူးမြူးရယ်လိုက်သည်။ ထိုစဉ် အိမ်ရှင်မြို့ဝန် ကတော်သည် မကျေနပ်သောအမူအရာဖြင့် ရောက်လာ သည်။

“တူတော်မောင်၊ မင်းကို အရီးတော် အင်နာ အင်္ဂနေယက်ဗနာက တွေ့ချင်လို့တဲ့”

မြို့ဝန်ကတော်က အင်နာအင်္ဂနေယက်ဗနာဆို သည့် အမျိုးသမီးကြီးမှာ အလွန်အရေးကြီးသည့် ပုဂ္ဂိုလ် ကြီးတစ်ဦးဖြစ်ကြောင်း နီကိုလေ သိစေရန် ထို အမျိုးသမီး ကြီးအမည်ကို အလေးအနက်ပြု၍ ရွတ်လိုက်သည်။ ဤ အချက်ကို နီကိုလေကလည်း ချက်ချင်းနားလည်လိုက် သည်။

“ကဲ သွားကြစို့ နီကိုလေ။ အရီးတော်ကို မင်းက ဒီလို ခေါ်ခွင့်ပြုပြီးသားနော်၊ ဟုတ်စ”

“ဟုတ်ကဲ့ သွားတာပေါ့ အရီးတော်။ ဒါထက် ခု ကျွန်တော့်ကို တွေ့ချင်တယ် ဆိုတာက ဘယ်သူပါလဲ”

“အင်နာအင်္ဂဇေယက်ဗနာ မာလဗင်ဆီဗာလေ။ သူ့တူမတော်ကို တူမောင် ဘယ်လို ကယ်ဆယ်တယ်ဆို တဲ့အကြောင်း တူမတော်ဆီက ကြားပြီးပါပြီတဲ့။ ကဲ၊ ဘယ်သူဖြစ်မလဲ မသိသေးဘူးလား”

“ကျွန်တော် ကယ်ခဲ့ဖူးသူတွေကတော့ အများကြီး ပဲခင်ဗျ”ဟု နီကိုလေက ပြော၏။

“သူ့တူမတော်က မင်းသမီးကလေး မေရီလေ။ သူလဲ ခု ဗိုရိုနက်ဇ်မှာ သူ့ အရီးတော်နဲ့ အလိုကြည့်စမ်း။ မျက်နှာကြီး နီရဲသွားတာက ဘာဖြစ်တာလဲကွယ်။ ဘာ ဖြစ်လို့”

“အို ဘာဖြစ်လို့မှ မဟုတ်ပါဘူးခင်ဗျာ။ အရီး တော် ကျွန်တော့်ကို”

“ကောင်းလှပါပြီတဲ့ရှင်၊ ကောင်းလှပါပြီတဲ့။ အင်း၊ တူတော်မောင်ကတော့ စံပါပဲ”

မြို့ဝန်ကတော်က အရပ်မြင့်မြင့် ကိုယ်လုံးတောင့် တောင့်နှင့် ခေါင်းတွင် ပဝါအပြာစည်းထားသော အဘွား ကြီးတစ်ဦးထံသို့ နီကိုလေကို ခေါ်သွားသည်။ ၎င်းတို့ ရောက်သွားသောအခါတွင် အဘွားကြီးမှာ ဗိုရိုနက်ဇ်မြို့ရှိ အရေးအကြီးဆုံး ပုဂ္ဂိုလ်ကြီးတစ်ဦးနှင့် ဖဲကစားပြီးခါစ ရှိသေးသည်။ ထိုအဘွားကြီးကား မင်းသမီး လေးမေရီ၏ မယ်တော်ဘက်မှ တော်စပ်သော အရီးဖြစ်သူ အင်နာအဂ္ဂ နေယက် ဗနာဆိုသူပေတည်း။ ထိုအမျိုးသမီးကြီးမှာ ဗိုရို နက်ဇ်တွင် အမြဲနေထိုင်၍ သားထောက်သမီးခံမရှိသော ပိုက်ဆံရှိ မုဆိုးမကြီးတစ်ဦး ဖြစ်သည်။ သူ့အနီးသို့ နီကိုလေ လျှောက်လာသောအခါတွင် ၎င်းမှာ ဝိုင်းမှထကာ ပိုက်ဆံရှင်းလျက် ရှိနေ ချိန်ဖြစ်၏။ အမျိုးသမီးကြီးသည် နီကိုလေကို ကြည့်လိုက်၍ မျက်နှာကိုတင်းကာ မျက်လုံး များကို မှေး၍ ထားလိုက်ပြီးနောက် ဖဲနိုင်သော ဗိုလ်ချုပ် ကြီးတစ်ဦးကို မြည်တွန်တောက်တီးလျက် ရှိသည်။

"အေး၊ တွေ့ရလို့ ဝမ်းသာသဟေ့"ဟု အမျိုးသမီး ကြီးက ပြောပြီးနောက် နီကိုလေကို လက်ကမ်းပေးလိုက် သည်။ "အရီးတော်အိမ်ကို လာခဲ့ပါဦးဟေ့၊ ဟုတ်စ"

မင်းသမီးကလေးမေရီနှင့် ၎င်း၏ကွယ်လွန်သူ ခမည်းတော်ကြီး (အဂ္ဂနေ ယက်ဗနာက ၎င်းကို နှစ်သက်ပုံ မရ။) အကြောင်းကို အနည်းငယ် ပြောဆိုကြ၏။ မင်းသား ကလေး အင်ဒရေ (၎င်းကိုလည်း အဂ္ဂနေယက်ဗနာ မကြိုက်) အကြောင်းကို ပြောဆိုပြီးသော် အရေးကြီးသည့် အမျိုးသမီးကြီးသည် နီကိုလေ အား မိမိဆီသို့ လာရောက် လည်ပတ်ရန် နောက်တစ်ကြိမ် ဖိတ်ကြားခြင်းပြု ပြန်သည်။

နီကိုလေက လာမည်ဟု ကတိပေးပြီး ဦးညွတ်နှုတ် ဆက်လိုက်၏။ ဦးညွတ် နှုတ်ဆက်စဉ်တွင် ၎င်း၏မျက်နှာ သည် နောက်တစ်ကြိမ် နီရဲသွားပြန်သည်။ မည်

သည့် အတွက်ကြောင့် မသိ။ နီကိုလေသည် မင်းသမီးကလေး မေရီ၏ အမည်ကို ကြားလိုက်တိုင်း ရှက်ကြောက်သည့် ဝေဒနာတစ်မျိုး (ထိတ်လန့်သည့် ဝေဒနာလည်း ပါသည်။) ကို ခံစားရသည်။

နီကိုလေမှာ ဂုဏ်သရေရှိ အမျိုးသမီးကြီးထံမှ ထွက်လာခဲ့ပြီးနောက် တစ်ချီတစ်မောင်းလောက် တွဲက လိုက်ချင်သေးသည်။ သို့ရာတွင် မြို့ဝန်၏ သေးသေးညှက် ညှက် ဇနီးက ၎င်း၏ ဝကစ်သော လက်ဖြင့် နီကိုလေ၏ လက်မောင်းကို လှမ်းဆွဲလိုက်ကာ နီကိုလေနှင့် စကားတစ် ခွန်းနှစ်ခွန်းပြောလိုသည်ဟုဆိုလျက် ဧည့်ခန်းဆောင်သို့ ခေါ်သွားပြန်သည်။ ဧည့်ခန်းဆောင်၌ ဧည့်သည်များသည် အနှောင့်အယှက်ဖြစ်မည်စိုးဟန်ဖြင့် ရှောင်ပေးကြ၏။

“ဘယ်လိုလဲ တူတော်မောင်” ၎င်း၏ ကြင်နာ သနားတတ်သော မျက်နှာတွင် လေးနက်တည်ငြိမ်သော အသွင်ကို ဆောင်လျက် မြို့ဝန်၏ဇနီးက ဆို၏။ “တူ တော်မောင်နဲ့ ဆိုရင်တော့ နေနဲ့လ ရွှေနဲ့မြပေပဲ။ ဘယ်လို လဲ စကားထည့် လိုက်ရတော့မလား။

“ဘယ်သူ့ကို ဆိုလိုတာပါလဲ အရီးတော်” နီကိုလေ က မေး၏။

“မင်းသမီးကလေးမေရီနဲ့ နေရာချဖို့ အရီးတော် စီစဉ်လိုက်မယ်လေ။ ကက်သရင်းပီထရိုဗနာကတော့ လီလီ နှင့် သဘောတူသတဲ့။ အရီးတော်ကတော့ သဘောမကျ ဘူး။ မေရီနဲ့ပဲ သဘောတူတယ်။ ဘယ့်နှယ်လဲ။ အရီးတော် စီစဉ်ပေး ရမလား။ တူတော်မောင်မယ်တော် ကြီးကတော့ အရီးတော်ကို ကျေးဇူးတင်လို့ ဆုံးမှာ မဟုတ်တော့ဘူး။ မေရီက တကယ်တော်တဲ့ ကလေးမပါကွယ်။ တကယ် ပါ။ ပြီးတော့ ဒီလောက်လဲ အရုပ်မဆိုးလှပါဘူး”

"မဆိုးလှပါဘူး၊ အရှီးတော်" နီကိုလေက အရုပ် မဆိုးပါဟု ဖြေရှင်းပြနေခြင်းကို မနှစ်သက်ဟန်ဖြင့် ဆို ၏။ "စစ်သားတစ်ယောက်အနေနဲ့ ပြောရရင် ကျွန်တော် ဟာ ဘယ်သူ့ကို လက်ခံရမလဲ၊ ဘယ်သူ့ကို ငြင်းရမလဲ ဆိုတာတွေ မရှိတော့ပါဘူး အရှီးတော်"

နီကိုလေက မိမိဘာပြောရမည်ကို စဉ်းစားချိန်ပင် မယူတော့ဘဲ လွှတ်ခနဲ ပြောလိုက်သည်။

"တကယ်ပြောတာနော် တူတော်မောင်။ ကိုယ့် စကားကို ကိုယ် မှတ်ထား။ အရှီးတော်က နောက်နေတာ မဟုတ်ဘူး"

"အို တကယ်ပေါ့ အရှီးတော်ရဲ့" - "အေး ဟုတ်ပြီ၊ ဟုတ်ပြီ" မြို့ဝန်ကတော်က တစ်ယောက်တည်း စကားပြောနေသည့်နှယ် ရွတ်နေသည်။ "သြော်၊ ပြောတော့ ပြောလိုက်ရဦးမယ်။ ဒီကနေ့ညနေ တူတော်မောင့်ကို ကြည့်ရတာ သိပ်အကဲမရဘူး။ ဟို အသားဖြူဖြူနဲ့ မိန်းမကို သိပ်အရေးပေးလွန်းသနော။

မလုပ်ပါနဲ့ကွယ်။ လင်ကြီးခမျာ သနားပါတယ်"

"အို ဒီလိုမလုပ်ပါဘူး အရှီးတော်။ ကျွန်တော်နဲ့ ဒီလူနဲ့ ခင်ပါတယ်" နီကိုလေက ရိုးသားစွာ ပြောလိုက် သည်။ အပျင်းဖြေနည်းတစ်ခုသည် မိမိအတွက် စိတ်ဆင်းရဲခြင်း ဖြစ်ကောင်း ဖြစ်စေနိုင်သည်ဟု နီကိုလေက တစ်ခါမျှ မစဉ်းစားခဲ့သေးချေ။

"အလို မြို့ဝန်ကတော်ကို ဘယ်လိုအဓိပ္ပာယ်မရှိ တဲ့ စကားတွေများ ငါပြောခဲ့မိပါလိမ့်" နီကိုလေသည် ညစာစားရင်းက ကောက်ကာငင်ကာ တွေးနေမိသည်။ "အရှီးတော်ဟာ ငါ့ကို အိမ်ထောင်ချပေးဖို့ စီစဉ်တော့ မှာပဲ။ ဆဝန်ယာကို ငါ ဘယ်လိုလုပ်မလဲ"

မြို့ဝန်အိမ်မှ ပြန်ခါနီး နှုတ်ဆက်ကြစဉ် မြို့ဝန် ဇနီးက ပြုံးလျက် “ဒါပဲနော် တူတော်မောင်။ ကိုယ့်စကား ကိုယ်မှတ်ထား”ဟု ပြောသည့်အခါ၌ နီကိုလေသည် မြို့ဝန်ဇနီးကို အနီးသို့ လှမ်းခေါ်ကာ

”တစ်ခုတော့ ရှိတယ် အရီးတော်။ အမှန်ပြောရ ရင်တော့”

“အလို ဘယ်လိုဖြစ်သွားရပြန်တာလဲ။ ၊ အေး အေးဆေးဆေး ထိုင်ပြောစမ်း ပါဦး” မြို့ဝန်ဇနီးက ပြော သည်။ . နီကိုလေ၏ စိတ်၌ မိမိစိတ်ထဲရှိသမျှတို့ကို သူစိမ်း တစ်ရံဖြစ်သည့် မြို့ဝန်ဇနီးအား ထုတ်ပြောလိုသောဆန္ဒ သည် တဖွားဖွား ပေါ်ပေါက်လာ၏။ (ဤစကားများကို မိခင်ကြီးကိုသော် လည်းကောင်း၊ ညီမကို သော် လည်း ကောင်း၊ ရောင်းရင်းများကိုသော် လည်းကောင်း ပြောမိ မည် မဟုတ် ချေ။) မည်သည့်အတွက်ကြောင့် ခုမှတွေ့၍ ခုမှသိရသော သူစိမ်းတစ်ရံဆံ တစ် ယောက်အား ဤမျှ ပွင့်ပွင့်လင်းလင်း ပြောလိုစိတ်ပေါ်လာရသနည်း။ (ဤသို့ ပွင့်လင်းမိသည့်အတွက် နောင်တွင် အရေးကြီးသော အကျိုး သက်ရောက်မှုများ ပေါ်ပေါက်ခဲ့သည် မဟုတ်လော။) ဟု နောင်တွင် နီကိုလေ ပြန်စဉ်းစားလိုက် သောအခါ၌ ယင်းမှာ အခြားကြောင့်မဟုတ်။ (ဤကိစ္စမျိုးတွင် သူသူ ငါငါ ဖြစ်လေ့ ရှိသည့်အတိုင်း) ထိုစဉ်က ချက်တစ်ဖြုတ် ပေါ်ပေါက်လာသော “စိတ်နောက်ကိုယ် ပါ” လုပ်လိုစိတ် ကလေးက ၎င်းကို လွှမ်းမိုးထားခြင်း ကြောင့် ဖြစ်ကြောင်း နီကို လေ တွေ့ရ၏။ သို့ရာတွင် ဤသို့ ဖြုန်းစားကြီး ပွင့်လင်းခဲ့ခြင်းနှင့်တကွ အခြား သော အသေးအဖွဲ အဖြစ် အပျက်ကလေးများသည်ပင် နီကိုလေနှင့် ၎င်း၏ မိသားစု တို့အဖို့ အရေးကြီးသော ရလဒ်များကို ဖြစ်ပေါ်စေခဲ့လေ သည်။

က “ဒီလိုပါ အရီးတော်။ မေဖျားက ကျွန်တော်ကို ( သူကြွယ်သမီးတစ် ယောက်နဲ့ လက်ဆက်စေချင်နေတာ ကြာပါပြီ၊ ဒါပေမဲ့ ငွေအတွက် လက်ထပ်ရ တယ်ဆိုတဲ့ ( အဖြစ်ကို ကျွန်တော် နည်းနည်းမှ လက်မခံနိုင်ပါဘူး”

“အို ဒါတော့ ဟုတ်တာပေါ့။ အရီးတော် နားလည် ပါတယ်”မြို့ဝန်ကတော်က ပြောသည်။

“ဒါပေမဲ့ မေရီထိပ်ထားနဲ့ ကိစ္စကတော့ တစ်ကိစ္စ ပါ။ ကျွန်တော် ရှင်းရှင်းပဲ ပြောပါမယ်။ မေရီထိပ်ထားကို ( ကျွန်တော် သဘောကျတယ်။ မေရီထိပ်ထားဟာ ကျွန်တော် စိတ်ကို တိမ်းညွတ်စေတယ်။ ဒါက အဓိကအချက်ပါ။ ပြီးတော့ တိုက်တိုက်ဆိုင်ဆိုင် သူ ဒုက္ခရောက်နေတုန်းမှာ ကျွန်တော်နဲ့ သွားတွေ့ရတယ်။ နဖူးစာဆိုတာ ဒါမျိုးများ လားလို့တောင် ကျွန်တော် မကြာမကြာ စဉ်းစားမိပါသေးတယ်။ မေဖျားက ကျွန်တော့်ကို သူနဲ့ လက်ဆက်ပေးဖို့ စိတ်ကူးနေတာ ကြာပါပြီ။ ဒါကိုပဲ အရီးတော် သိပါလိမ့် မယ်။ အဲဒီအချိန်ထိ မေရီထိပ်ထားကို ကျွန်တော် တစ်ခါ မှ မမြင်ဖူးသေးပါဘူး။ မြင်ဖို့လဲ အကြောင်းမရှိခဲ့ပါဘူး။ ကျွန်တော့်ညီမ နာတာရှာနဲ့ သူ့မောင်ဟာ စေ့စပ်ပြီးဖြစ် နေကြလေတော့ ကျွန်တော် သူ့ကို လက်ထပ်ဖို့ကိစ္စဟာ မဖြစ်နိုင်တော့ပါဘူး။ ဒါပေမဲ့ နာတာရှာတို့ ကြောင်းလမ်းထားတဲ့ကိစ္စက ပျက်သွားတဲ့အခါကျတော့မှ သူနဲ့ကျွန်တော် ကလဲ တိုက်တိုက်ဆိုင်ဆိုင် လာတွေ့ကြတာပါ။ နောက် တော့ အရီးတော်သိတဲ့အတိုင်းပါပဲ။ ဒီအကြောင်းတွေကို ကျွန်တော် ဘယ်သူ့ကိုမှ မပြောခဲ့သေးပါဘူး။ နောက်လဲ ပြောမှာမဟုတ်ပါဘူး။ အရီးတော်မို့လို့ ပြောတာပါ”

မြို့ဝန်ဇနီးက ကျေးဇူးတင်စွာဖြင့် နီကိုလေ၏ တံတောင်ဆစ်ကို ဖိ၍ ညှစ်လိုက်သည်။

“ကျွန်တော့်ညီမဝမ်းကွဲဆွန်ယာကို အရီးတော် သိပါသလား။ ကျွန်တော်နဲ့ ဆွန်ယာတို့ မေတ္တာရှိနေကြပါ တယ်။ ဆွန်ဟို့ကို လက်ထပ်မယ်လို့ ကျွန်တော် ကတိ ပေးပြီးပါပြီ။ တကယ်လဲ လက်ထပ်ယူမှာပါပဲ။ ဒီတော့ ဒီပြဿနာဟာ”

နီကိုလေက မျက်နှာနီရဲလျက် ရှိရာမှ အဆက် အစပ်မရှိ ပြောလျက်ရှိ၏။

“အင်း၊ တူတော်မောင်မြင်ပုံကလည်း တစ်မျိုးပေါ့ လေ။ တကယ်တော့ ဆွန် ဟို့မှာ ဘာမှ မက်စရာမရှိပါ ဘူး တူတော်မောင်။ မောင့်မေဖျားရဲ့ စီးပွားရေး အခြေအနေ ကိုလဲ မောင်ကိုယ်တိုင် ပြောပြပြီးပြီ။ ဒီလိုလုပ်လိုက်ရင် မောင့်မေဖျား ဘယ်လိုနေမလဲ။ မေဖျား ဒီစိတ်နဲ့သေလိမ့် မယ်။ ဒါက တစ်ချက်။ နောက်တစ် ချက်က ဆွန်ယာကော တူတော်မောင်နဲ့ လက်ထပ်လို့ စိတ်ချမ်းသာမတဲ့လား။ သူ သာ အသည်းနှလုံးရှိတဲ့ မိန်းကလေးတစ်ယောက်ဆိုရင် ဒီလိုလုပ်ရက်မလား။ မအေကြီးလဲ ဒီစိတ်နဲ့ ဒုက္ခ ရောက်။ တူတော်မောင်တို့ အားလုံးလဲ စီးပွားပျက်။ မဟုတ်သေး ပါဘူး တူတော်မောင်ရယ်။ ဆွန်ယာရော၊ တူတော်မောင်ပါ ဒါကို လေးလေးနက်နက် စဉ်းစားပါ။ ဒါလောက်တော့ နားလည်ထားသင့်ပါတယ်” ။

နီကိုလေမှာ တိတ်ဆိတ်လျက် ရှိ၏။ မြို့ဝန်ဇနီး ၏ ချေပချက်များကို ကြားလိုက်ရသည်၌ ရင်ထဲတွင် ပေါ့ပါးချောင်ချိသွားသကဲ့သို့ ရှိလေသည်။ အတန်ကြာ မှ သက်ပြင်းကြီးချလိုက်လျက် :

”မထူးပါဘူး အရီးတော။ ဖြစ်နိုင်မယ် မထင်ပါ ဘူး။ ပြီးတော့ မေရီထိပ်ထား သဘောလဲ ရှိပါသေးတယ်။ သူလဲ ခမည်းတော်ကြီးကိစ္စနဲ့ သောကရောက်နေရတဲ့ အထဲ ဒီကိစ္စတွေ ဘယ်မှာ စဉ်းစားနိုင်ပါဦးမလဲ”

“အို အရီးတော်က ဒီကိစ္စကို ခုချက်ချင်းစီစဉ်ဖို့ ပြောနေတာလဲ မဟုတ်ပါဘူး တူတော်မောင်ရဲ့ ဒီအတွက် ကတော့ အရီးတော်တို့ တာဝန်ထားပါ”

မြို့ဝန်ဇနီးက ဆို၏။

“အင်း၊ အရီးတော်တို့ကတော့ အောင်သွယ်ကောင်း ပီသပါပေတယ်ခင်ဗျာ” နီကိုလေက မြို့ဝန်ဇနီး၏ ဝဝ ကစ်ကစ်လက်ကလေးကို နမ်းရှုပ်ရင်း ပြောလိုက် သည်။

# အခန်း ၆

(ဘိုဂူချာရိုဗိုတွင်) နီကိုလေနှင့် တွေ့ဆုံခဲ့ပြီးနောက် မော် စကိုသို့ ရောက်သောအခါ၌ ၎င်း၏ တူတော်မောင် "ဘိုး အချစ်" မင်းသားကလေးနှင့် စာပြဆရာ ဒီဆေးလ်အပြင် မင်းသားကလေး အင်ဒရေထံမှ စာတစ်စောင်ကိုလည်း မင်းသမီးကလေး မေရီတွေ့ရလေသည်။ ဗိုရိုနက်ဇ်မြို့ ကလေးရှိ ၎င်းတို့၏ အရီးတော် အင်နာအဂ္ဂနေယက်ဗနာ ထံသို့ မည်သို့ မည်ပုံသွားရမည်ကို ထိုစာတွင် ဖော်ပြထား၏။ ခမည်းတော်ကြီး နာမကျန်းဖြစ်လျက် ရှိစဉ်က သော် လည်းကောင်း၊ ခမည်းတော်ကြီး ကံတော်ကုန်ပြီး သည့်အချိန်ကတည်းကသော် လည်းကောင်း၊ အထူးသဖြင့် နီကိုလေနှင့် တွေ့ပြီးကတည်းက သော်လည်းကောင်း မိမိအား ဖိစီးလျက်ရှိသော အကုသိုလ်စိတ်နှင့် တူသည့် ထိုခံစားချက်သည် ခရီးသွားရန် ပြင်ဆင်ရခြင်း၊ မောင် တောင် မင်းသားကလေး အင်ဒရေအတွက် စိုးရိမ်ပူပန် ရခြင်း၊ အိမ်သစ်တွင် "အထာကျ"အောင် ပြင်ဆင်ရခြင်း၊ လူသစ်များနှင့် တွေ့ကြုံရခြင်း၊ တူတော်ကလေး၏ ပညာ သင်ကြားရေးကို ဂရုစမ္မစိုက်ရခြင်း စသည့် ဗာဟီရကိစ္စ အဝဝကြားတွင် နစ်မြုပ် ပျောက်ကွယ်သွားခဲ့လေပြီ။ မင်းသမီးကလေးမေရီသည် ဝမ်းနည်းလျက်ရှိ၏။ တိတ် ဆိတ်ငြိမ်သက်သော တောမြို့ ပတ်ဝန်းကျင်တွင် တစ်လမျှ နေထိုင်ခဲ့ပြီး ဖြစ်သည့် ယခုအချိန်၌ ခမည်းတော်ကြီး တစ် ယောက် ဤလူ့လောကကြီးတွင် မရှိတော့ပြီ၊ အဆုံးကြီး ဆုံးခဲ့ရပြီဟူသော ခံစားချက်သည် ၎င်း၏ရင်၌ ပို၍နက် ရှိုင်းစွာ အမြစ်တွယ်စပြုလာ၏။ ၎င်း၏စိတ်၌ ခမည်း တော်ကြီး ဆုံးရှုံးရခြင်းနှင့် ရုရှားနိုင်ငံကြီး ပျက်စီးရခြင်း တို့သည် တစ်ခုနှင့် တစ်ခု ခွဲမရအောင် ဆက်စပ်လျက် ရှိကြ၏။ ယခုမူ မိမိအဖို့ လောကကြီးတွင် အရင်းနှီးဆုံး ဆို၍ မောင်တော်မင်းသားကလေး အင်ဒရေတစ်ဦးသာ ကျန်ရစ်ခဲ့လေပြီ။ လောကကြီးတွင် မိမိနှင့် အရင်းနှီးဆုံး ဖြစ်သော မောင်တော်မင်းသား

ကလေး အင်ဒရေ ကြုံတွေ့ လျက်ရှိသော ဘေးအန္တရာယ်များကို စဉ်းစားမိတိုင်း လည်း မင်းသမီးကလေးမေရီသည် ရတက်မအေးနိုင်ဘဲ ပူဆွေး ခြင်း ဖြစ်ရသည်။ ထို့ပြင် တူတော်လေး၏ ပညာသင်ကြား ရေးအတွက်လည်း ပူပန်ရပြန်သေးသည်။ တူတော်လေးကို ပညာထွန်းထွန်းပေါက်ပေါက် ဖြစ်လာစေရန် လုပ်နိုင်သော အရည်အချင်းမျိုး မိမိ၌ မရှိဟုလည်း မင်းသမီးကလေး မေရီသည် တစ်ထစ်ချ ယူဆထားသည်။ သို့ရာတွင် ၎င်း၏ နက်ရှိုင်းသော ဝိညာဉ်ထဲ၌ကား စိတ်၏ ကြည်လင်ငြိမ်းချမ်း ခြင်းတစ်မျိုးကို မင်းသမီးကလေးမေရီ ခံစားရသည်။

ယင်းမှာ မိမိ၏ ရင်ထဲတွင် လှုးလွန့်နိုးကြားစပြုလာသော နီကိုလေနှင့် ပတ်သက်သည့် ကိုယ်ရေးကိုယ်တာ အိပ်မက် များ၊ မျှော်လင့်ချက်များသည် မှုန် မှေးပျောက်ကွယ်သွားကြ ပြီဟူသော အသိမှ ပေါ်ပေါက်လာသည့်စိတ်၏ ကြည်လင် ငြိမ်းချမ်းခြင်းမျိုး ဖြစ်လေသည်။

ညှော့ခံပွဲပြီးသည့်နောက်တစ်နေ့၌ မြို့ဝန်ဇနီးသည် အင်နာအဂ္ဂနေယက်ဗ နာထံ ရောက်လာခဲ့၏။ နီကိုလေ နှင့် မင်းသမီးကလေးမေရီတို့ကို လက်ဆက်ပေး ရန် ၎င်း ၏ အကြံကို တင်ပြပြောဆိုပြီးနောက် ယခုလက်ရှိ အခြေ အနေ၌ တရားဝင်စေ့စပ်လမ်းကြောင်းခြင်း မပြုသင့်သေး သည်မှန်သော်လည်း လူငယ် အချင်းချင်း တွေ့ဆုံကာ တစ်ဦးကိုတစ်ဦး ရင်းနှီးအောင်လုပ်ပေးသင့်သည်ဟု ထုတ် ဖော်ပြောဆိုခြင်း ပြုလေသည်။ ဤအကြံကို မင်းသမီး ကလေး မေရီ၏အရီး တော် အင်နာအဂ္ဂနေ ယက်ဗနာက လည်း သဘောတူ၏။ ဤတွင် မြို့ဝန်၏ဇနီး ကလည်း မင်းသမီးကလေး မေရီ၏ရှေ့တွင် နီကိုလေနှင့် စပ်လျဉ်း၍ ချီးကျူးပြီး နောက် မင်းသမီးကလေး မေရီ၏နာမည်ကို ထုတ်ဖော်ပြောဆိုတိုင်း နီကိုလေမှာ ရှက်အမ်းအမ်းဖြစ် လျက် မျက်နှာ နီရဲနေတတ်ကြောင်းဖြင့် ပြောဆိုတတ် သည်။ သို့ရာတွင် မင်းသမီးကလေး မေရီမှာ ပျော်ရွှင် ကြည်နူးခြင်းထက် နာကျင်သော ဝေဒနာတစ်မျိုးကို ခံစား ရလေသည်။ နီကိုလေ့အကြောင်းကို ကြားလိုရသည်နှင့်

တစ်ပြိုင်နက် ၎င်း၏စိတ်ကြည်လင်ချမ်းမြေ့မှုသည် ပြိုလဲ ပျက်စီးသွားကာ ဆန္ဒများ၊ သံသယများ၊ မိမိကိုယ်ကို မကျေနပ်မှုများနှင့် မျှော်လင့်ချက်များသည် ပြန်လည်နိုး ကြားလာခဲ့လေပြီ။

နီကိုလေ လာရောက်လည်ပတ်ခြင်း မပြုမီ နှစ်ရက် လုံးလုံး မင်းသမီးကလေး မေရီသည် နီကိုလေနှင့် မည်သို့ မည်ပုံ မျက်နှာချင်းဆိုင်ရပါမည်နည်းဟု အစဉ်အမြဲ စဉ်း စားလျက်ရှိသည်။ မိမိမှာ ခမည်းတော်ကြီးအတွက် ပူဆွေး လျက်ရှိချိန် ဖြစ်သဖြင့် ယခုအချိန်တွင် ဧည့်သည်များအား လက်ခံတွေ့ဆုံခြင်း ပြုရန် မသင့်။ ထို့ကြောင့် နီကိုလေ ရောက်လာ၍ မိမိအရီးတော်အား နှုတ်ဆက်နေချိန်တွင် ဧည့်ခန်းဆောင်ထဲသို့ ဆင်းတွေ့ခြင်းမပြုတော့ဟု ဆုံးဖြတ် လိုက်သည်။ သို့ရာတွင် နီကိုလေမှာ မိမိအား ကယ်ဆယ် " ခဲ့သူဖြစ်သဖြင့် ရိုင်းရာရောက်နေမည်လောဟု စဉ်းစားမိပြန်  သည်။ အရီးတော်နှင့် မြို့ဝန်ဇနီးတို့မှာ မိမိတို့နှစ်ယောက် ကို လက်ဆက်ပေးရန် ဆန္ဒရှိလေသလော (၎င်းတို့နှစ်ဦး၏ ( အမူအရာများ၊ စကားများက မိမိ၏ အထင်ကို ထောက်ခံ နေသည်ဟု တစ်ခါတစ်ရံ ထင်မိသည်။) ဟု စဉ်းစားမိရာမှ တစ်ဖန် ဤလို အတွေးမျိုးကို မိမိကဲ့သို့ ဒုစရိုက်တွင် ပျော်မွေ့သူတို့သာ တွေးမိခြင်းဖြစ်သည်။ အရီးတော်တို့ကမူ ဤလိုအချိန်မျိုးတွင် မိမိအား လက်ထပ်ရန် စီစဉ်ခြင်းသည် ( မိမိကို လည်းကောင်း၊ ခမည်းတော်ကြီးကို လည်းကောင်း စော်ကားရာရောက်မည်ဟု မတွေးဘဲနေမည်ဟု တွေးမိပြန် သည်။ တစ်ဖန် နီကိုလေအား ဆင်း၍ တွေ့ဆုံမည်ဟု ဆုံးဖြတ်ကာ နီကိုလေကပြောမည့် စကားနှင့် မိမိက ပြန် ပြောရမည့်စကားတို့ကိုလည်း စဉ်းစားနေမိပြန်သည်။ ထိုစကားလုံးများသည် တစ်ခါတစ်ရံတွင် အသက်ကင်းမဲ့ဟန် ပေါက်သလောက် အများကြီး တာသွားနိုင်သည်ဟုလည်း တွေးမိပြန်သည်။ နီကိုလေနှင့် တွေ့သည်နှင့် တစ်ပြိုင်နက် ဖုံးမနိုင်ဖိမရ ဂနာမငြိမ်ဖြစ်နေမည်ကိုကား မင်းသမီးကလေး မေရီ အကြောက်ဆုံး ဖြစ်လေသည်။

သို့ရာတွင် တနင်္ဂနွေနေ့နံနက် ဝတ်တက်ပြီးချိန် ရောက်၍ နီကိုလေ လာရောက်လည်ပတ်ကြောင်းဖြင့် အစေတော်က ဧည့်ခန်းဆောင်ထဲသို့ လာရောက်ပြောကြား သောအခါ၌မူ မင်းသမီးကလေးမေရီ၏ ဂနာမငြိမ်ဖြစ်နေ ခြင်းတို့သည် ပျောက်ကွယ်သွားကြလေပြီ။ ရှက်သွေးဖျန်း သဖြင့် ပါးပြင်တွင် အနည်းငယ်နီရဲသွားခြင်းနှင့် မျက်လုံး တွင် တောက်ပဝင်းလက်လာခြင်းတို့မှအပ အခြား ဘာမျှ ထူးခြားချက် မရှိလှချေ။

"အရီးတော်သူနဲ့ တွေ့ပြီးပြီနော်" မင်းသမီးလေး မေရီက တည်ငြိမ်သော အသံဖြင့် မေးလိုက်သည်။ မိမိ၏ အပြင်ပန်းသဏ္ဌာန်၌ ဤမျှလောက် တည်ငြိမ်၍ ဤမျှ လောက် သဘာဝကျနေခြင်းကိုပင် ကိုယ့်ဘာသာကိုယ် နားမလည်နိုင်အောင် ဖြစ်ရသေးသည်။

ဧည့်ခန်းဆောင်ထဲသို့ နီကိုလေ ဝင်ရောက်လာ သောအခါတွင် နီကိုလေအား အရီးတော်ကို နှုတ်ဆက်ရန် အချိန်ပေးသည့်နှယ် မင်းသမီးကလေးမေရီသည် ခေတ္တ မျှမျက်လွှာချထားလိုက်သည်။ နီကိုလေက မိမိဘက်သို့ လှည့်လိုက်သည့် အခါကျမှ မင်းသမီးကလေးမေရီသည် ခေါင်းကို မော့ကာ ရွှန်းလဲ့သော မျက်လုံးများဖြင့် နီကိုလေ ၏ အကြည့်ကို ဆိုင်လိုက်သည်။ ဣသိက္ခာရှိလှသော လှုပ်ရှားဟန်ဖြင့် ကြည်နူးရွှင်ပျသော အပြုံးကိုဆောင်လျက် ကိုယ်ကို အသာကြွကာ သေးသွယ်နူးညံ့သောလက်ကို နီကိုလေသို့ ကမ်းပေးလိုက်သည်။ ထိုနောက် မိန်းမပီသ သော အသံလှိုင်းသစ်တို့ နက်ရှိုင်းစွာ တလွင်လွင်ရိုက် ခတ်လျက်ရှိသော အသံတစ်မျိုးဖြင့် စကားပြောဆိုလျက် ရှိလေသည်။ ထိုအချိန်က ဧည့်ခန်းဆောင်ထဲတွင် အတူရှိ နေသော ပြင်သစ်သူ ဘူရင်းသည် အံ့ဩသော အမူအရာ ဖြင့် မင်းသမီးလေးမေရီကို ငေးကြည့်နေမိလေသည်။ ဘူရင်းသည် ယောကျ်ားတကာတို့၏ စိတ်ကို တိမ်းညွတ် အောင် ယိုဖိတ်အောင် မာယာဆောင်ရာ၌ တေဒဂ်ရသူ

ဖြစ် 'သော်လည်း မိမိမြူဆွယ်လိုသော ယောကျ်ားတစ်ယောက် ကို တွေ့၍ မာယာ ပရိယာယ်ဆောင်ရာ၌မူ မင်းသမီးလေး မေရီကို မီနိုင်လိမ့်မည် မထင်ချေ။

"ဩော်၊ အနက်ရောင်လေးကပ် ထိပ်ထားနဲ့ လိုက် လို့လား။ ဒါမှမဟုတ် ထိပ်ထားကိုယ်တိုင်က လှလာတာ ကို ငါက သတိမထားမိလို့ပဲလား။ ဘာပဲဖြစ်ဖြစ် ဒီတစ်ခါ ထိပ်ထားလုပ်လိုက်ပုံကလေးကတော့ ပရိယာယ်လ် ကြွယ် ပါပေတယ်။ ဣန္ဒြေလဲ ရှိပါပေတယ်"

ပြင်သစ်သူဘုရင်းသည် ဤသို့ တွေးလျက်ရှိလေ သည်။

အကယ်၍ မိမိ၏အမူအရာကို ချက်ချင်း ပြန်လှန် တွေးတော စဉ်းစားနိုင်စွမ်း ရှိခဲ့ပါလျှင် မိမိ၏ အပြောင်း အလဲမြန်ပုံကို (ပြင်သစ်သူ ဘုရင်းထက်ပင်) မင်းသမီး ကလေးမေရီကိုယ်တိုင် အံ့ဩမိမည် ဖြစ်လေသည်။ မိမိ ချစ်ရ မြတ်နိုးရပါသော ထို မျက်နှာကို မြင်လိုက်ရသည် နှင့် ကစ်ပြိုင်နက် အသစ်ဖြစ်သော အသက်ဓာတ်အား တစ်ခုသည် မင်းသမီးကလေးမေရီ၏ ကိုယ်တွင်းသို့ ဝင် ရောက်လာကာ မိမိ၏အလိုနှင့် ဆန့်ကျင်သော အပြုအမူ မျိုး၊ စကားမျိုးကို လုပ်ကိုင်ပြောဆိုရန် ၎င်းကို စေခိုင်း လျက် ရှိလေပြီ။ ဧည့်ခန်းဆောင်ကို နီကိုလေ ဝင်ရောက်လာ သည့် အချိန်မှစ၍ ၎င်း၏ မျက်နှာအသွင်အပြင်သည် လုံးဝ ပြောင်းလဲသွားခဲ့လေပြီ။ ကနုတ်ပန်းနွယ်တို့ ဆင်ယင် ထား၍ အရောင်အသွေးမျိုးစုံ ခြယ်လှယ်ထားသည့် မီးအိမ် တစ်အိမ်ကို ထွန်းညှိလိုက်သောအခါ၌ ယခင်က မှောင် ပိန်းဖုထစ်၍ အဓိပ္ပာယ်မရှိဟု ထင်ရသော ကျွမ်းကျင်စွာ ရေးခြယ်ထုလုပ်ထားသည့် အနုပညာ လက်ရာ အပြောက် အမွမ်း၊ အဆန်းတကြယ်တို့သည် လှပတင့်တယ် ရှုချင် စဖွယ် ကို ဆောင်လာကြသကဲ့သို့ မင်းသမီးကလေးမေရီ၏ သန့်စင်သော အတွင်းသန္တာန်၏ လှပတင့်တယ်မှုတို့သည် လည်း မျက်နှာပြင်တွင် အထင်းသား ပေါ်လာကြလေသည်။ ၎င်းတစ်လျှောက်လုံး ခံစားခဲ့ရသော ခံစားမှုများ၊ ကိုယ့်

ကိုယ်ကို မကျေနပ်မှုများ၊ ဝေဒနာများ၊ ကောင်းမြတ်ခြင်း အတွက် ကြိုးပမ်း အားထုတ်မှုများ၊ နူးညံ့ကြင်နာမှုများ၊ မေတ္တာ၏ တန်ခိုးအာနိသင်များ၊ ကိုယ်ကျိုး စွန့်လွှတ်တတ် သောစိတ်များ စသည်တို့သည် ၎င်း၏ တောက်ပရွှန်းလဲ့ သော မျက်လုံးများတွင်လည်းကောင်း နူးညံ့သိမ်မွေ့သော အပြုံးတွင် လည်းကောင်း၊ ချိုသာကြည်လင်သော မျက်နှာ ပေါ်မှ လှုပ်ရှားမှုတိုင်းတွင် လည်းကောင်း အရောင် လင်း ဟပ်လျက် ရှိကြလေသည်။

နီကိုလေသည် မင်းသမီးလေးမေရီ၏ ဘဝတစ်ခု လုံးကို ကောင်းစွာသိရှိပြီး ဖြစ်သည့်နှယ် ထိုအခြင်းအရာ အားလုံးကို ကောင်းစွာ မြင်လိုက်၏။ မိမိရှေ့တွင် ထိုင် လျက်ရှိသည့် သတ္တဝါသည် ယခင်က မိမိတွေ့ခဲ့ဖူးသော သတ္တဝါများနှင့် လုံးဝ ခြားနား၍ ၎င်းတို့ အားလုံးထက် သာလွန်သည့် သတ္တဝါတစ်ဦးဟု ထင်မိသည်။ မိမိ ကိုယ် တိုင်ထက်ပင် မြင့်မြတ်သည့် သတ္တဝါတစ်ဦးဟု ထင်မိ သည်။

၎င်းတို့ပြောသောစကားများမှာ ပြောရိုးပြောစဉ် အရေးမကြီးသော စကား များသာဖြစ်၏။ ၎င်းတို့သည် ဖြစ်ပွားလျက်ရှိသော စစ်ကြီးအကြောင်းကို ပြောဆို ခြင်း ပြုကြ၏။ သူသူငါငါ ပြောကြသကဲ့သို့ပင် စစ်ကြီးနှင့် စပ်လျဉ်းသည့် စိတ်မ ချမ်းမြေ့ဖွယ်ရာများကို မသိမသာ ချဲ့ကားပြောမိလျက် ဖြစ်နေကြသည်။ ထို့နောက် ၎င်း တို့နှစ်ဦး နောက်ဆုံး တွေ့ဆုံခဲ့ကြပုံကိုလည်း ပြောကြ သည်။ နီကို လေက စကားလမ်းကြောင်းပြောင်းသည့်အနေ ဖြင့် တစ်ဖက်သားအပေါ်တွင် ကြင်နာတတ်သည့် မြို့ဝန် ဇနီးအကြောင်း၊ မိမိ၏ ဆွေမျိုးများအကြောင်းနှင့် မင်းသမီး လေး မေရီ၏ ဆွေမျိုးများအကြောင်းကို ပြောဆိုလျက် ရှိသည်။

မင်းသမီးလေးမေရီသည် ၎င်း၏ မောင်တော် မင်းသားကလေး အင်ဒရေ၏ အကြောင်းကိုကား တစ်လုံး  တစ်ပါဒမျှ ပြောဆိုခြင်းမပြုချေ။ ၎င်း၏ အရီးတော် က မင်းသားကလေး အင်ဒရေ၏အကြောင်းကို စတင်ပြောဆို ခြင်းပြုသည်နှင့်

စကားကို လှီးလွှဲပစ်လိုက်သည်။ မင်းသမီး ကလေးမေရီသည် ရုရှားနိုင်ငံကြီး၏ ကံကြမ္မာဆိုးကို ဟန်ဆောင်၍ ပြောဆိုခြင်းပြုနိုင်သော်လည်း ၎င်း၏မောင် တော် မင်းသားကလေးကိုမူကား လွန်စွာ ချစ်ခင်မြတ်နိုးလှ သည့်အတွက် ၎င်း၏အကြောင်းကို စကားစပ်၍ ပြောရ မည့်ဟန် ပေါ့ပေါ့တန်တန် ပြောဆိုခြင်းမ ပြုရက်ချေ။ ထိုသို့လည်း ပြောဆိုခြင်းပြုလိမ့်မည် မဟုတ်ချေ။ ယခင်က တစ်ခါဖူး မျှ မရှိခဲ့ဖူးသော အကင်းပါးခြင်းမျိုးဖြင့် မင်းသမီး ကလေးမေရီ၏ အလေ့အထ အားလုံးကို သတိပြုမိသကဲ့သို့ ဤတစ်ချက်ကိုလည်း နီကိုလေ သတိပြုလိုက် မိသည်။ မင်းသမီးကလေးမေရီသည် လုံးဝ ခြားနား၍ အများနှင့် မတူ တစ်မူထူး သောသတ္တဝါတစ်ဦးဖြစ် သည်ဆိုသော နီကိုလေ၏ ယုံကြည်ချက်သည်လည်း ခိုင်မာသည်ထက် ခိုင်မာလာခဲ့သည်။ (နီကိုလေ၏ အမည်ကို ကြားလျှင် မင်းသမီး ကလေးမေရီ၏ မျက်နှာတွင် ရှက်သွေးများ ဖြာ လာသကဲ့သို့) မင်းသမီးကလေးမေ ရီ၏ အမည်ကိုကြား လျှင် နီကိုလေ၏ မျက်နှာ၌လည်း ရှက်သွေးတွေဖြာလာ ကာ အိုးတိုးအမ်းတမ်းဖြစ်လျက် ရှိလေသည်။ ထိုမျှမက `၎င်း၏အကြောင်းကို တွေး လိုက်မိရုံမျှနှင့်ပင် နီကိုလေ တွင် ရှက်သွေးဖြာကာ အနေရခက် လျက်ရှိ တတ်သည်။ သို့ရာတွင် နှစ်ယောက်မျက်နှာချင်း ဆိုင်မိသည့်အခါတွင်မူ နီကိုလေ မှာ ရှက်ရွံ့ခြင်းတို့ မရှိတော့ဘဲ သက်သောင့် သက်သာ ဖြစ်လျက်ရှိကာ ကြိုတင် စီစဉ်ခဲ့သည့် စကား လုံးများကို မပြောမိတော့ဘဲ ထိုအခိုက်အတန့်တွင် ခေါင်း ထဲ သို့ ဝင်ရောက်လာသော စကားလုံးများကိုသာ ပြောဆို မိလျက်သား ဖြစ်နေ တတ်သည်။

နီကိုလေ ခေတ္တအလည်ရောက်ရှိနေသည့် အတော အတွင်း စကားစပြတ် သွားစဉ်၌ ကလေးငယ်များရှိသည့် အိမ်တွင် ပြုကြမြဲထုံးစံအတိုင်း နီကိုလေသည် မင်းသား ကလေးအင်ဒရေ၏ သားငယ်ဘက်သို့လှည့်ကာ တယု တယ ပွေ့ဖက်ပြီး နောက် ကြီးပြင်းလာလျှင် မြင်းတပ်သား ကြီး လုပ်မည်လောဟု မေးမြန်းခြင်းပြု

လေသည်။ နီကိုလေ သည် ကလေးငယ်ကို ပွေ့ချီကာ ဒူးပေါ်တင်၍ ကျီစယ် ပြီးနောက် မင်းသမီးကလေးမေရီကို လှည့်ကြည့်လိုက်  သည်။ မင်းသမီးကလေးမေရီသည် မိမိချစ်သော ယောကျ်ား ပျို၏ ရင်ခွင်ထဲ၌ မိမိချစ်သောကလေးငယ်ကို ကြည်နူး ပျ၍ ရှက်ရွံ့သော အကြည့်မျိုးဖြင့် ကြည့်နေမိသည်။ ထို ( အကြည့်ကို နားလည်သဘောပေါက်သည့်နှယ် နီကိုလေ ကလည်း သတိပြုလိုက်မိသည်။ ထို့နောက် ကြည်နူးခြင်း ကြောင့် မျက်နှာနီရဲလျက် ရှိရာက ရိုးသားစင်ကြယ်သော ကျီစယ်ခြင်းမျိုးဖြင့် ကလေးငယ်ကို နမ်းရှုပ်လျက် ရှိလေ သည်။

မင်းသမီးကလေးမေရီသည် ခမည်းတော်ကြီး အတွက် ပူဆွေးလျက်ရှိချိန် ဖြစ်သဖြင့် အပြင်အပသို့ မထွက်လှချေ။ နောက်တစ်ခေါက် သွားရောက်လည်ပတ်ရန် မသင့်ဟုလည်း နီကိုလေယူဆသည်။ သို့ရာတွင် မြို့ ဝန်ကတော်ကမူ မေရီက နီကိုလေအား ချီးမွမ်းပြောဆို သည့် စကားများကို နီကိုလေထံ အရောက်ပို့၍ နီကိုလေ က မေရီအား ချီးမွမ်းပြောဆိုသမျှကိုလည်း မေရီထံ ဖောက်သည်ချကာ အောင်သွယ်ခြင်းကိစ္စကို ဆောင်ရွက် လျက် ရှိလေသည်။ ထိုရည်ရွယ်ချက်ဖြင့် မြို့ဝန်ကတော် သည် လူငယ်နှစ်ဦးကို ဝတ်တက်ချိန်မတိုင်မီ သင်းအုပ်ဆရာ၏အိမ်၌ တွေ့ဆုံပေးရန် စီစဉ်ထားသည်။

မိမိသည် မင်းသမီးကလေးမေရီအား ချစ်ခင် နှစ်သက်ကြောင်း ထုတ်ဖော်ပြောဆိုခြင်း ပြုမည်မဟုတ်ဟု မြို့ဝန်ကတော်ကို ပြောလိုက်သော်လည်း ဆက်ဆက်လာ ရောက်ပါမည်ဟူ၍ကား နီကိုလေက ကတိပေးလိုက်၏။ - နီကိုလေသည် တစ်လဆစ်တွင် မင်းနှစ်ပါးတွေ့ ဆုံ၍ စစ်ပြေငြိမ်းရေးလုပ်စဉ် လူအားလုံးက အမှန်ဟု လက်ခံထားသော အရာမှန်သမျှကို သံသယဖြစ်ခဲ့ဖူး၍ စိတ်ဒုက္ခရောက်ခဲ့ဖူးပြီဖြစ်ရာ ထိုအကျိုန်ကစ၍ မှန်သည်ဟု အများက လက်ခံထားသော အရာမှန်သမျှကို မှန်သည် ဟု လက်ခံကာ ရေလိုက်ငါးလိုက် နေတတ်နေ

လေပြီ။ ထို့ကြောင့် ယခုတစ်ကြိမ်၌လည်း မိမိ၏ဘဝကို မိမိ၏ အသိဉာဏ်၊ မိမိ၏ဆင်ခြင်တုံတရားဖြင့် ဆုံးဖြတ်ပြဋ္ဌာန်း မည်လော၊ သို့မဟုတ် ပတ်ဝန်းကျင် အခြေအနေ၏ ဖန်တီး မှုအောက်တွင် ဝပ်စင်းအရှုံးပေးလိုက်မည်လောဟု နည်း နှစ်နည်းလွန်ဆွဲလာသောအခါ၌ နီကိုလေသည် ကြာရှည် စဉ်းစားခြင်းမပြုတော့ဘဲ ဒုတိယနည်းကို ရွေးချယ်လိုက်ကာ မိမိအား မသိနိုင်သော တစ်နေရာသို့ တွန်းပို့ လျက်ရှိ သည့် တန်ခိုးစွမ်းအားကို လက်မြှောက်အရှုံးပေးလိုက် လေသည်။ ဆွန် ယာကို လက်ထပ်မည်ဟု ကတိပေးပြီး နောက်မှ မင်းသမီးကလေးမေရီကို ချစ် ပါသည်ဟု ဖွင့်ဟ ပြောဆိုခြင်းမှာ ယုတ်ညံ့သိမ်ဖျင်း၍ ယောက်ျားမပီသရာ ရောက် သည်ဟု နီကိုလေ နားလည်ပါသည်။ မိမိသည် ဤသို့ ယောက်ျားမပီသသော အလုပ်မျိုးကို လုပ်လိမ့် မည်မဟုတ်ဟု မိမိကိုယ်ကို ကောင်းစွာ သိပါသည်။ သို့ သော် ပတ်ဝန်းကျင်စေ့ဆော်မှုကို လိုက်လျောလိုက်ခြင်း၊ မိမိအား ရှေ့ဆောင် လမ်းပြ ပြုနေသူတို့၏ အလိုကို လိုက်လျောလိုက်ခြင်းဖြင့်ကား မိမိသည် အမှား တစ်ခုကို ပြုလုပ်နေခြင်း မဟုတ်ရုံမျှမက မိမိတစ်သက်တွင် မိမိ လုပ်ခဲ့သမျှတို့ အနက် အရေးတကာ့ အရေးအကြီးဆုံး အလုပ်ကြီးတစ်ခုကို လုပ်ဆောင်နေခြင်း သာ ဖြစ်သည်ဟု နီကိုလေ ယူဆပါသည်။ (ယူဆရုံမျှမက အသည်းထဲ အူ ထဲက လည်း ခံစားမိပါသည်။) မင်းသမီးလေးမေရီနှင့် တွေ့ဆုံပြီးနောက်၌ နီကို လေ၏ ဘဝသည် အပြင်ပန်းအားဖြင့် ဘာမျှ ထူးခြားခြင်း မရှိလှသော်လည်း ယခင်က ပျော်ရွှင်ကြည်နူးခြင်းကို ဖြစ် စေခဲ့သောအရာတို့သည် ယခုအချိန်၌ ပျော်ရွှင် ကြည်နူး ခြင်းကို မဖြစ်စေနိုင်တော့ပြီ။ နီကိုလေသည် မင်းသမီး ကလေး မေရီ အကြောင်းကိုသာ တွေးတောနေမိသည်။ သို့ရာတွင် မင်းပွဲသဘင်များတွင် မိမိ တွေ့မြင်ခဲ့ရသော လုံမပျိုကလေးများ၏ အကြောင်းကို တွေးတောပုံမျိုးလည်း မဟုတ်ချေ။ တစ်ခါက ကြည်နူးမှုအပြည့်ဖြင့် အချိန်အတန် ကြာ မိမိတွေးတောခဲ့ ဖူးသောဆွန်ယာအကြောင်းကို တွေး တောပုံမျိုးလည်း မဟုတ်ချေ။ တွေးတောစဉ်

ကမူ နီကိုလေ သည် ရိုးသားဖြောင့်စင်းသော လူငယ်များ တွေးတောနည်း အတိုင်း တွေးတော့ခဲ့၏။ လုံမပျိုများကို မိမိစိတ်ကူးဖြင့် ပုံသွင်းကာ အိမ်ထောင်ရှင်မ လောင်းတစ်ဦး၊ ဇနီးလောင်း တစ်ဦးအဖြစ် စဉ်းစားကြည့်ခဲ့ခြင်း ဖြစ်၏။ ဝတ်ရုံဖြူ ဖြူ လှလှကလေးဆင်ပေးမည်။ "မတင်းတိမ်သေးတယ်၊ ထမင်း မြိန်ဆေး သဖွယ်"ဆိုသကဲ့သို့ စားပွဲတွင် တစ်ယောက်မျက်နှာ တစ်ယောက်ကြည့်ကာ ထမင်းလက်ဆုံစားကြမည်။ ဇနီး ချောလေးအတွက် ကရထားကောင်းကောင်း တစ်စင်းဝယ် မည်။ သားသားလေးတွေ၊ မီးမီးလေးတွေ အမွေးခိုင်းမည်။ ၎င်းတို့ အား အမေနှင့် မည်သို့ဆက်ဆံစေမည် စသည့် စဉ်းစားနည်းမျိုး ဖြစ်၏။ ထိုသို့ စဉ်းစားလိုက်တိုင်း နီကိုလေသည် ရင်တလှိုက်လှိုက်ဖြစ်အောင် ကြည်နူးခြင်း ဖြစ် ရသည်။ သို့ရာတွင် မိမိနှင့် လက်ဆက်ပေးရန် ကြိုး ပမ်းနေသော မင်းသမီးကလေး မေရီအကြောင်းကို တွေး တောစဉ်းစားလိုက်တိုင်း အနာဂတ် အိမ်ထောင်ရေး၏ ရှုခင်းများသည် အဆက်အစပ်မရှိ၊ပြေပြစ်ခြင်းမရှိ။ သဘာဝ ကျခြင်းမရှိဘဲ ဖြစ် လျက်ရှိလေသည်။ သို့ဖြင့် နီကိုလေသည် မင်းသမီးလေးမေရီကို ဇနီးတစ်ယောက် အဖြစ် ထားရန် စိုးရွံ့လျက် ရှိလေသတည်း။

## အခန်း ၇

ကြောက်မက်ဖွယ်ကောင်းလှသော ဘိုရိုဒီနိုတိုက်ပွဲ သတင်း များ၊ ရုရှားတို့ အကျအဆုံး အရှုံးအနာများသည့် သတင်းများ နှင့် မော်စကို ကျဆုံးပြီဆိုသော သာ၍ကြောက်မက်ဖွယ် ကောင်းသော သတင်းများသည် စက်တင်ဘာလအလယ် လောက်တွင် ဗိုရိုနက်ဇ်မြို့ကလေးသို့ ရောက်ရှိလာလေ သည်။ မင်းသားကလေး အင်ဒရေ ဒဏ်ရာရသည်ဟူသော သတင်းကို စစ်ပြန်တမ်းများမှ သိရသော်လည်း ထိုထက် ဘာမျှ တိကျသေချာစွာ မသိရသည့်အခါ၌ မင်းသမီး ကလေးမေရီသည်

၎င်း၏မောင် မင်းသားကလေးအင်ဒရေ ကို လိုက်လံရှာဖွေရန် ပြင်ဆင်ခြင်းပြုလေသည်။ (ဤ အကြောင်းကို နီကိုလေတစ်ဆင့် ကြားရခြင်း ဖြစ်သည်။ မင်းသမီးကလေးမေရီနှင့်ကား နောက်ထပ် မတွေ့ရတော့ ချေ။) ဘိုရိုဒီနိုတိုက်ပွဲသတင်းနှင့် မော်စကိုကို စွန့်ခွာခဲ့ ရပြီဆိုသည့်သတင်းကို ကြားရသည့်အခါ၌ နီကိုလေသည် စိတ်ပျက်အားငယ်ခြင်းလည်း မဖြစ်မိ၊ ဒေါသအမျက် ခြောင်းခြောင်းထွက်ခြင်းလည်း မဖြစ်မိ။ ပြင်သစ်တို့ကို လက်စားချေလိုခြင်းလည်း မဖြစ်မိ။ အလားတူခံစားချက် မျိုးကိုလည်း မခံစားမိချေ။ သို့ရာတွင် ထိုသတင်းကို ကြား ပြီးသည့်နောက် ဗိုရိုနက်ဇ်တောမြို့ကလေးတွင် နေထိုင်ရ ခြင်းကိုမူ ငြီးငွေ့လာခဲ့ရလေပြီ။ ရှက်သလိုလို၊ အနေရခက် သလိုလို အမည်ဖော်ပြမရသော ခံစားမှုတစ်မျိုးသည်လည်း ပေါ်ပေါက်လာခဲ့လေပြီ။ မိမိကြားနေရသော စကားများ ' သည် အညာလှိုင်းများဟု ထင်မှတ်လာခဲ့သည်။ မိမိတွေ့ကြုံ နေရသည့် ကိစ္စများကိုလည်း အမှားအမှန် မဝေခွဲတတ် အောင် ဖြစ်လာခဲ့လသည်။ တပ်ထဲတွင် နေရခြင်းသည် ပို၍ ရှင်းလင်းလွယ်ကူသည်ဟု ထင်မှတ်လာခဲ့လေသည်။ ထို့ကြောင့် နီကိုလေသည် မြင်းဝယ်ရေးကိစ္စများကို အမြန် - ပြီးပြတ်အောင် လုပ်လျက်ရှိ၏။ တပ်ခွဲတပ်ထောက်ကိုသော် လည်းကောင်း၊ မိမိတပ်လုလင်ကိုလည်းကောင်း အကြောင်း မရှိဘဲ စိတ်တိုနေတတ်သည်။

ဗိုရိုနက်ဇ်မြို့ကလေးမှ ထွက်ခွာခြင်းမပြုမီ ရက် အနည်းငယ်အလို၌ ရုရှားတပ်မတော် အောင်ပွဲများအတွက် ကျေးဇူးတော်ချီးမွမ်းပွဲတစ်ခုကို ဘုရားဝတ်ကျောင်းတွင် ကျင်းပ၏။ ထိုပွဲသို့ နီကိုလေလည်း တက်ရောက်ခြင်း ပြုလေသည်။ နီကိုလေသည် ဝတ်တက်ချိန် တစ်ချိန်လုံး စစ်သားတို့၏ ဟန်အပြည့်ဖြင့် မြို့ဝန်၏ နောက်နား ခပ်ကျကျတွင် ရပ်လျက်ရှိရင်း ရောက်တတ်ရာရာကို စဉ်းစားတွေးတောလျက် ရှိသည်။ ဝတ်တက်ပြီးသည့်အခါ တွင် နီကိုလေအား မြို့ဝန်ကတော်က လက်ယပ်ခေါ်လိုက်

”မေရီထိပ်ထားကို တွေ့ရဲ့လား” မျက်နှာချင်းဆိုင် တွင် ရပ်နေသူ အမျိုးသမီးတစ်ဦးကို မေးငေါ့၍ပြရင်း ၎င်းက မေးလိုက်သည်။

နီကိုလေသည် မင်းသမီးလေးမေရီကို ချက်ချင်း မှတ်မိလိုက်၏။ သို့ရာတွင် ဦးထုပ်အောက်မှ မြင်လိုက်ရ သော မင်းသမီးကလေးမေရီ၏ ဘေးစောင်းမျက်နှာ ပုံသဏ္ဍာန်ကြောင့် မှတ်မိခြင်း မဟုတ်ပါ။ မိမိစိတ်ထဲတွင် ပေါ်ပေါက်လာသော စိုးရိမ်ပူပန်ခြင်း၊ ရှက်ရွံ့ခြင်း၊ သနား ခြင်းတို့ကြောင့် အလိုလိုမှတ်မိလိုက်ခြင်းသာ ဖြစ်ပါသည်။ မင်းသမီးကလေး မေရီမှာလည်း တစ်စုံတစ်ခုကို စဉ်းစား လျက်ရှိဟန် ဖြင့် ဝတ်ကျောင်းမှမပြန်မီ နောက်ဆုံးတစ်ကြိမ် လက်ယှက် ဝတ်ပြုလျက်ရှိလေ သည်။

နီကိုလေသည် တအံ့တသြဖြင့် မင်းသမီးလေးမေရီ ၏ မျက်နှာကို ကြည့် လိုက်သည်။ မင်းသမီးလေးမေရီ ၏ မျက်နှာမှာ ၎င်းမြင်ခဲ့ဖူးသော ယခင်မျက်နှာ ပင် ဖြစ် ပါသည်။ နူးညံ့သိမ်မွေ့သော စိတ်ခံစားမှုများကို ဖော်ပြ သည့် ယခင် အမူအရာပင် ဖြစ်ပါသည်။ သို့ရာတွင် မျက်နှာ ဝင်း ထိန်နေပုံမှာ ထူးခြားလျက် ရှိ ပါသည်။ ထိုမျက်နှာ အမူအရာ၌ ဝမ်းနည်းကြေကွဲခြင်း၊ မျှော်လင့်ခြင်း စသည် တို့သည် သနားစဖွယ် ထင်ဟပ်လျက် ရှိပါသည်။ မင်းသမီး လေး မေရီရောက်လာ လျှင် ယခင်က မိမိပြုလေ့ ရှိသည့် အတိုင်း နီကိုလေသည် မြို့ဝန်ကတော်၏ တိုက်တွန်းချက် ကို စောင့်ဆိုင်းခြင်း၊ သုဓမ္မာဇရပ်ထဲ၌ သွားရောက် နှုတ် ဆက်ရန် သင့်မသင့်ကို စဉ်းစားခြင်းမရှိတော့ဘဲ မင်း သမီးကလေးမေရီအပါးသို့ လျှောက် လာခဲ့ကာ မင်းသား လေး အင်ဒရေ၏သတင်းကို ကြားပြီးဖြစ်ပါကြောင်း၊ ထို့ နောက် မိမိ၏ ဝိညာဉ်တစ်ခုလုံးဖြင့် ကိုယ်ချင်းစာနာမိ ( ပါကြောင်းဖြင့် ပြောဆို ခြင်းပြုသည်။ နီကိုလေ၏အသံကို ကြားသည်၌ မင်းသမီးကလေးမေရီ၏ မျက်နှာ

သည် ဝင်းထိန်လာကာ ဝမ်းနည်းခြင်းနှင့် ဝမ်းသာခြင်းတို့ကို တစ်ပြိုင်နက် ဖော်ပြလျက် ရှိသည်။

“ကျွန်တော် တစ်ခုတော့ ပြောချင်ပါတယ် ထိပ် 'ထား” နီကိုလေက ဆို၏။ “ထိပ်ထားရဲ့ မောင်တော်ဟာ ဗိုလ်မှူးကြီးတစ်ဦးဖြစ်လေတော့ တကယ်ကျဆုံးသွားတာ မှန်ရင် ပြန်တမ်းထဲမှာ ချက်ချင်းကြေညာလိမ့်မယ်လို့ ထင်ပါတယ်”

မင်းသမီးကလေးမေရီက နီကိုလေကို ကြည့်လိုက် သည်။ ၎င်း၏စကားများကို နားမလည်သော်လည်း နီကိုလေ၏ မျက်နှာပေါ်မှ ကိုယ်ချင်းစာနာသည့် အမူအရာ ကို တွေ့လိုက်ရသဖြင့် အားတက်သွားသည်။

“ကျွန်တော်သိသလောက် ပြောရမယ်ဆိုရင် ကျည် စမှန်တယ်ဆိုတာ (ပြန်တမ်းတွင် အမြောက်ဆန်ဟု ဖော် ပြထားသည်။) ပွဲချင်းပြီး ကျရင်လဲကျ၊ ပွဲချင်းပြီမဟုတ် ရင်လဲ သိပ်ပြင်းထန်လှတာမျိုး မဟုတ်ပါဘူး။ ဘာပဲဖြစ် ဖြစ်လေ အကောင်းဆုံးကိုတော့ မျှော်လင့်ထားရမှာပေါ့။ ပြီးတော့ ကျွန်တော် ပြောရဲပါတယ်”

မင်းသမီးလေးမေရီက ကြားဖြတ်ကာ “အို၊ ထိပ်ထားမကြားရဲပါဘူး နီကိုလေ”

မင်းသမီးလေးမေရီမှာ စိတ်လှုပ်ရှားလာကာ စကား ကို ဆက်မပြောနိုင်တော့ဘဲ ခေါင်းကို ငုံ့ထားလိုက်သည်။ နီကိုလေ၏ရှေ့တွင် မင်းသမီးလေးမေရီ ပြုသောအပြုအမူ တိုင်းသည် ကျက်သရေရှိသကဲ့သို့ ခေါင်းကို ငုံ့ထားလိုက်ပုံ မှာလည်း ကျက်သရေရှိလှပါသည်။ ထို့နောက် မင်းသမီး လေးမေရီသည် နီကိုလေအား ကျေးဇူးတင်သော မျက်လုံး ကြီးများဖြင့် မော့ကြည့်လိုက်လျက် ၎င်း၏အရီးတော်နှင့်  အတူ သုဓမ္မာဇရပ်အပြင်ဘက်သို့ ထွက်သွားလေသည်။

ထိုနေ့ညနေ၌ နီကိုလေသည် အပြင်သို့ မထွက် တော့ဘဲ တည်းခိုရိပ်သာ တွင် မြင်းကုန်သည်များနှင့် စာရင်း ရှင်းလျက်ရှိသည်။ ကိစ္စပြီးသောအခါ၌မူ အပြင် သို့ထွက်ရန် အချိန် အတော်နှောင်းကာ အိပ်ရာဝင်ရန်လည်း အတန် ငယ်စော လျက် ရှိသေးသဖြင့် အခန်းတွင်းဝယ် ခေါက်တုံ့ ခေါက်ပြန် လမ်းလျှောက်ကာ မိမိ၏ဘဝကို ပြန်၍ ဆင်ခြင် သုံးသပ်လျက် ရှိလေသည်။ ထိုအပြုအမူကား နီကို လေ ပြုခဲလှသော အပြုအမူပေတည်း။

စမိုးလင့်နယ်တွင် ပထမဆုံးအကြိမ် တွေ့ခဲ့ရစဉ်က တည်းက နီကိုလေသည် မင်းသမီးလေးမေရီကို စွဲလမ်း ခဲ့သည်။ စစ်တွင်း ဗရုတ်သုကုန္တအခြေအနေများတွင် တွေ့ ဆုံခဲ့ရခြင်း၊ မိမိနှင့် မင်းသမီးလေးမေရီတို့အား လက်ဆက် ပေးရန် မိခင် မြို့စားကတော်ကြီးက တီးခေါက်ကြည့်ခဲ့ ဖူးခြင်း စသည်တို့ကြောင့် နီကိုလေသည် မင်းသမီးလေး မေရီအပေါ် အထူးစိတ်ဝင်စားခဲ့ခြင်း ဖြစ်၏။ ဗိုရိုနက်ဇ် မြို့ကလေး တွင် ယခုတစ်ဖန် ပြန်လည်တွေ့ဆုံရသောအခါ ၌ကား မိမိက မင်းသမီးလေးမေရီ အပေါ် စိတ်ဝင်စားခြင်း မှာ ယောကျာ်းပျိုတစ်ဦးက မိန်းမပျိုတစ်ဦးကို တွေ့ ရာတွင် ဖြစ်မြဲထုံးစံ သာမန်ကာလျှံကာ ကြည်နူးခြင်းမျိုးမဟုတ် ဘဲ တန်ခိုး စွမ်းအား ကြီးမားစွာဖြင့် မိမိအား ဖွဲ့ နှောင် ထားခြင်းမျိုး ဖြစ်ကြောင်း တွေ့ရလေ ပြီ။ ဤအကြိမ်တွေ့ ဆုံရာ၌ မင်းသမီးလေးမေရီ၏ ထူးထူးခြားခြားစိတ်ထား လှပ ခြင်းကို နီကိုလေ သတိပြုမိလေရာ နီကိုလေသည် ထိုအချက်ကို စွဲလမ်းလျက် ရှိ လေပြီ။ သို့ရာတွင် တပ်သို့ ပြန်ရန် ပြင်ဆင်နေရခြင်းကြောင့် မင်းသမီးလေးမေရီ အား နောက်ထပ်တွေ့ရတော့မည် မဟုတ်ဟု တွေးတော လွမ်းဆွတ်နေရန် အချိန် မရလှချေ။ သို့သော်လည်း ထို နေ့က သုစမ္မာဇရပ်တွင် တွေ့ဆုံလိုက်ရခြင်းမျိုးကား မိမိ၏ ကြည်နူးမှုအတွက် လိုအပ်သည်ထက်ပိုကာ နီကို လေ၏စိတ်ကို ယောက်ယက်ခတ်မျှဖြစ်အောင် ဆွဲလှုပ် လျက် ရှိလေပြီ။ ဖျော့တော့ညှိုးငယ်၍ သန့်စင်သော ထို မျက်နှာ၊ တောက်ပဖင်းလဲ့သော ထိုအကြည့်၊ သိမ်မွေ့၍

ကျက်သရေရှိသော ထိုအမူအရာများနှင့် အထူးသဖြင့် ၎င်း ၏ ကိုယ်ဟန် အသွင်အပြင်အားလုံးတွင် ထင်ဟပ်လျက် ရှိသော် နက်ရှိုင်းနူးညံ့သည့် ဝမ်းနည်း ကြေကွဲဟန်သည် နီကိုလေကို လှုပ်ရှားစေကာ ကြင်နာ သနားစိတ်တို့ကို နှိုးဆွ ပေးလျက် ရှိလေပြီ။ ယောကျ်ားများ၌ အသိဉာဏ် တရား မြင့်မားဟန်ရှိခြင်းကို နီ ကိုလေ နှစ်သက်ခြင်းမရှိ လှချေ။ (ထို့ကြောင့်လည်း မင်းသားကလေး အင်ဒရေကို သဘောမတွေ့ခြင်း ဖြစ်သည်။) ယောကျ်ားများ၌ ဤသို့ အသိဉာဏ်တရား မြင့်မား ဟန်ရှိခြင်းကို နီကိုလေက စိတ်ကူးယဉ်ဆန်သည်။ အဘိဓမ္မာဆန်သည်ဟု ရှုတ်ချ ပြော လေ့ရှိသည်။ သို့ရာတွင် မိမိတွင် မရှိသောအရာဖြစ်သည့် အသိဉာဏ်တရား မြင့်မားပုံကို ဖော်ပြရာ ဝမ်းနည်းကြေကွဲ သည့် အရိပ်အယောင်ကို မင်းသမီးလေး မေရီ၏ မျက်နှာ ပေါ်၌ တွေ့လိုက်ရသောအခါ၌မူ ထိုအရာသည်ပင်လျှင် နီကိုလေ အား ရုန်းထွက်မရအောင် ညို့ယူဖမ်းစားသော အရာဖြစ်လျက် ရှိလေသည်။

“မေရီထိပ်ထားဟာ ထူးခြားတဲ့ မိန်းမမြတ်တစ်ဦး ဖြစ်မှာပဲ။ တကယ့်တမန် တော် နတ်သမီးတစ်ပါးပေပဲ” နီကိုလေသည် တစ်ယောက်တည်း ပြောမိ၏။ “ငါ ဘာ ကြောင့် ချစ်တင်းစကားပြောခွင့်မရှိရမှာလဲ။ ဘာကြောင့် ဆွန်ယာနဲ့ လက်ဆက်ဖို့ အလောသုံးဆယ် ဖြစ်နေရမှာလဲ”

နီကိုလေသည် ၎င်းတို့နှစ်ဦးကို နှိုင်းယှဉ်ကြည့်မိ လျက်သား ဖြစ်နေသည်။ ဆွန်ယာ၌ အသိဉာဏ်တရား မရှိပုံ၊ မင်းသမီးလေးမေရီ၏ အသိဉာဏ်တရား ကြီးမားပုံ တို့ကို နှိုင်းယှဉ်စဉ်းစားမိသည်။ မင်းသမီးလေးမေရီမှာ မိမိတွင် မရှိသော အသိဉာဏ်တရားမျိုး ရှိခြင်းကြောင့်ပင် ၎င်းကို ပို၍ တန်ဖိုးထားမိသေးသည်။ ဆွန် ယာနှင့် ပြတ် ပြတ်စဲစဲဖြစ်အောင်လုပ်လျှင် မည်သို့ရှိချိမ့်မည်နည်း၊ မင်းသမီး ကလေးမေရီကို မည်သို့ ချစ်တင်းဆိုမည်နည်း၊ မိမိ၏ ဇနီးဖြစ်လျှင် မည်သို့ ရှိ ချိမ့်မည်နည်း။ နီကိုလေသည် ဤသို့ တွေးမိသည်။ သို့ရာတွင် နီကိုလေ ထိုသို့

စဉ်းစား ၍ မရပါတကား။ နီကိုလေသည်သည် ဆွန်ယာနှင့် အိမ် ထောင်ကျလျှင် မည်သို့ရှိမည်နည်းဟု အတန်ကြာကပင် တွေးခဲ့ဖူးသည်။ သို့တွေးလိုက်တိုင်းလည်း အစမှအဆုံးတိုင် စဉ်းစားပြီးသားဖြစ်သည့်အတွက်ကြောင့် တစ်ကြောင်း၊ ဆွန်ယာတွင်ရှိသည့် အရည်အချင်းမှန်သမျှကို သိပြီး ဖြစ်သည့်အတွက်ကြောင့် တစ်ကြောင်း ၎င်းတို့နှစ်ဦး၏ အနာဂတ်ရုပ်ပုံလွှာများသည် ထင်ထင်ရှားရှား ရှင်းရှင်းလင်းလင်း ပေါ်လာကြကုန်သည်။ သို့ရာတွင် မင်းသမီး လေး မေရီနှင့် တည်ဆောက်အံ့ရသော အနာဂတ်အိမ် ထောင်ရေးကို တွေးလိုက်သောအခါတွင်မူကား မိမိသည် မင်းသမီးလေးမေရီအား ချစ်ရုံမှတစ်ပါး အခြား ဘာမျှ ၎င်းတို့နှစ်ဦး၏ အနာဂတ်ရုပ်ပုံလွှာများသည် မှုန်ဝါးရှုပ် ထွေးလျက် ရှိတတ်လေသည်။

ဆွန်ဟ္မီအကြောင်းကို တွေးလိုက်လျှင် နီကိုလေ ၏ စိတ်၌ကြည်နူးခြင်း၊ ဝမ်းသာခြင်း ဖြစ်ရသည်။ သို့ ရာတွင် မင်းသမီးလေးမေရီ၏အကြောင်းကို တွေးလိုက် သည့်အခါတွင်မူ ချောမွေ့ လွယ်ကူခြင်းမရှိရုံမျှမက ထိတ် လန့်သလိုပင် ဖြစ်ရသေးသည်။

“မေရီထိပ်ထား ဆုတောင်းဝတ်ပြုနေပုံဟာ ဘယ် လောက် ကျက်သရေရှိသလဲ။ ဘယ်လောက် စိတ်ပါလက် ပါရှိသလဲ” နီကိုလေ တွေးမိသည်။ “သူ့ဝိညာဉ်တစ်ခု လုံးဟာ ဝတ်ပြုဆုတောင်းရာထဲမှာ နစ်မြုပ်မနေတော့တာပဲ။ ဟုတ်တယ်။ ဆုတောင်းခြင်းဟာ တောင်ကြီးတွေကိုတောင် စေတယ်။ ဘုရားသိကြားမလို့ မေရီထိပ်ထားတစ် ယောက် ဆုတောင်းပြည့်ပါစေဗျာ။ အလို၊ ငါကော ငါလိုရာကို ဘာဖြစ်လို့ ဆုမတောင်းရမှာလဲ”

နီကိုလေသည် ရုတ်တရက် အကြံရလာသည်။

“ငါ ဘာကို ဆုတောင်းမလဲ။ ဘာကိုလိုသလဲ။ ဆွန်ယာနဲ့ ပြတ်ပြတ်စဲစဲဖြစ်ချင်တယ် မဟုတ်လား။ လွတ်လွတ်လပ်လပ်ဖြစ်ချင်တယ် မဟုတ်လား။ အင်း၊

အရီးတော်ပြောတာ မှန်ပေတာပဲ”

နီကိုလေသည် မြို့ဝန်ကတော်၏ စကားများကို အမှတ်ရလာသည်။

“ဆွန်ယာကို လက်ထပ်ရန် ဒုက္ခလှလှကြီး တွေ့ ရတော့မှာပဲ။ နေရေးထိုင်ရေး အခက်အခဲတွေ တွေ့ရမယ်။ မေဖျားလဲ စိတ်ဒုက္ခရောက်ရမယ်။ ငွေရေးကြေးရေးအတွက် လဲ ပူပင်ရဦးမယ်။ ရှုပ်တယ်။ သိပ်ရှုပ်တယ်။ ပြီးတော့ ငါကကော ဆွန်ယာကို တကယ်ချစ်တာမှ မဟုတ်ဘဲ။ ဘုရားသခင်ကိုယ်တိုင်မြတ်ကြီးဘုရား၊ တပည့်တော်အား ဤကြောက်စရာ အရှုပ်အထွေးကြီးမှ ကယ်တင်လွတ် မြောက်အောင် စောင်မတော်မူပါဘုရား”

နီကိုလေသည် ရုတ်တရက် ဆုတောင်းခြင်း ပြုလေ သည်။

“ဟုတ်တယ်၊ ဆုတောင်းခြင်းဟာ တောင်ကြီး တွေကိုတောင် ရွေ့စေတယ်။ ဒါပေမဲ့ ဆုတောင်းရာမှာ ယုံယုံကြည်ကြည်နဲ့ ဆုတောင်းရမယ်။ ငယ်ငယ်တုန်းက နှင်းပွင့်တွေကို သကြားပွင့်တွေဖြစ်အောင် လုပ်ပေးပါဘုရား လို့ ငါနဲ့ နာတာရှာ ငယ်ငယ်တုန်းက ဆုတောင်းပြီး သကြားပွင့်တွေ ဖြစ်မဖြစ် အပြင်ထွက်ကြည့်ကြဖူးတယ်။ ဒီလိုကလေးကလား ဆုတောင်းလို့တော့ မဖြစ်ဘူး။ ဟုတ် တယ်။ ငါဟာ အသေးအဖွဲကလေးတွေအတွက် ဆုတောင်း နေတာ မဟုတ်ဘူး”

နီကိုလေသည် ဤသို့တွေးကာ ဆေးတံကို အခန်း ' ထောင့်တွင် ချလိုက်ပြီးနောက် လက်ပိုက်လျက် ဘုရားစင် ရှေ့တွင် ထိုင်လိုက်သည်။ မင်းသမီးကလေးမေရီကို တွေ့ ရခြင်းကြောင့်ဖြစ်သော ကြည်နူးစိတ်ဖြင့် နီကိုလေသည် ဆုတောင်းခြင်း ပြုလေသည်။ ဤသို့ စိတ်ပါလက်ပါ ဆုတောင်းခြင်း မပြုသည်မှာ ကြာခဲ့ပြီ။ ၎င်း၏မျက်လုံး တွင် မျက်ရည်တွေ ဝဲလျက်ရှိလေသည်။ ထိုအခိုက် တံခါးပွင့်လာ

ကာ ၎င်း၏ တပ်လုလင် လာဗရူရှာကာ သည် စာရွက်များကိုင်လျက် ဝင်လာလေသည်။

“ဟော့ ခွေးသား၊ မင်းကို မခေါ်ဘဲနဲ့ ဘာဖြစ်လို့ ဝင်လာတာလဲဟင်”

နီကိုလေက ကိုယ်ဟန်ကို ပြင်ရင်း အော်လိုက် သည်။ လာဗရုရှကာက အိပ်ချင်မူးတူးအသံဖြင့်

”မြို့ဝန်ကတော်ဆီက လူတစ်ယောက် လာပါ တယ် ဗိုလ်မှူး၊ ဗိုလ်မှူးကို စာနှစ်စောင် လာပေးသွားပါ တယ်”

“ကောင်းပြီ၊ ထားခဲ့”

နီကိုလေသည် စာနှစ်စောင်ကို ကောက်ယူလိုက် ၏။ တစ်စောင်မှာ မိခင်မြို့စားကတော်ကြီးထံမှဖြစ်၍ နောက်တစ်စောင်မှာ ဆွန်ယာထံမှ ဖြစ်လေသည်။ နီကိုလေသည် လက်ရေးကို ကြည့်ရုံမျှဖြင့် မှတ်မိလိုက်၏။ ဆွန်ယာ့စာကို ပထမဖွင့်လိုက်သည်။ စာကြောင်းအချို့ကို ( ဖတ်ပြီးသည့်နောက်တွင် နီကိုလေ၏မျက်နှာသည် ဖြူရော် သွားကာ ၎င်း၏မျက်လုံးများသည် ဝမ်းမြောက်ခြင်း ထိတ် လန့်ခြင်းတို့ကြောင့် ပြူးကုန်လျက် ရှိကြ၏။

“မဖြစ်နိုင်ဘူး။ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး”ဟု နီကိုလေက အော်လျက်ရှိသည်။

နီကိုလေသည် ထိုင်မနေနိုင်တော့ဘဲ ခေါက်တုံ့ ခေါက်ပြန် လမ်းလျှောက်ရင်း စာကို ဖတ်လျက် ရှိ၏။ နီကိုလေသည် စာကို တစ်ကြိမ်ဆုံးအောင် ခပ်သော့သော့ ဖတ်ပြီးနောက် တစ်ကြိမ် ထပ်ဖတ်သည်။ ထို့နောက် တစ် ကြိမ် ထပ်ဖတ်ပြန်သည်။ ထိုနောက် အခန်းအလယ်တွင် မတ်တတ်ရပ်လျက် ပခုံးနှစ်ဖက်ကို မြှင့်ကာ လက်နှစ်ဖက် ကို ဆန့်ထုတ်လိုက်သည်။ ၎င်း၏ပါးစပ်သည် ဟလျက်ရှိ၍

မျက်လုံးများသည် တစ်နေရာတည်းကို စူးစိုက်ကြည့်လျက် ရှိလေသည်။ ဘုရားသခင်သည် မိမိအလိုကို ဖြည့်တော် မူလိမ့်မည်ဟူသော ယုံကြည်ချက် အပြည့်ဖြင့် နီကိုလေ တောင်းခဲ့သောဆုသည် ပြည့်ခဲ့လေပြီ။ သို့တိုင်အောင် ထို အဖြစ်သည် အံ့ဖွယ်သရဲထူးကဲသည် အဖြစ် ကြီးတစ်ခုသဖွယ် နီကိုလေသည် အံ့အားသင့်လျက် ရှိ လေသည်။ ယခုလောက် မြန်မြန်ဆန်ဆန် ဆုတောင်းပြည့် လာရကြောင်းသည် ဘုရားသခင်ကြောင့်မဟုတ်ဘဲ မတော် တဆ တိုက်ဆိုင်လာ သည့်နှယ် ရှိတော့သည်။

ရုတ်တရက်ရောက်ရှိလာ၍ မည်သူတစ်ဦးတစ် ယောက်၏ တိုက်တွန်း နှိုးဆော်ချက်ကြောင့်မျှ မဟုတ်ဘဲ ဆွန်ယာကိုယ်တိုင် လိုလိုချင်ချင်ရေးလိုက်ခြင်း ဖြစ်သည်ဟု နီကိုလေ ယူဆရသော ဆွန်ယာ့စာကား မိမိအား နှောင် တည်းထား၍ မိမိကိုယ်တိုင် ရုန်းထွက်၍ မရနိုင်တော့ဟု ယူဆထားသည့် အနှောင်အဖွဲ့ကြီးမှ နီ ကိုလေအား ဖြေ လွှတ်လိုက်သည့် စာပင် ဖြစ်လေသည်။ မြို့စားကြီး ရော့ စတာ ဗ်၏ မော်စကိုရှိ ပစ္စည်းများအားလုံး ဆုံးရှုံးရပုံ စသည့် စိတ်မချမ်းမြေ့ဖွယ် နောက်ဆုံး အဖြစ်အပျက်များ ကြောင့် တစ်ကြောင်း၊ မြို့စားကတော်ကြီးက နီကို လေ အား မင်းသမီးလေးမေရီနှင့် လက်ထပ်စေလိုသော ဆန္ဒ ရှိကြောင်း ထုတ်ဖော် ပြောဆိုခြင်းကြောင့် တစ်ကြောင်း၊ ထိုအထဲတွင် နီကိုလေကလည်း ယခင်ကနှင့်မ တူ ထူးခြား ကာ အေးစက်စက်ဖြစ်နေခြင်းတို့ကြောင့် စသည်အကြောင်း အမျိုးမျိုး တို့ကြောင့် မိမိသည် နီကိုလေအား လွတ်လပ် ခွင့်ပေးရန် ဆုံးဖြတ်လိုက်ပြီ ဖြစ်ပါ ကြောင်း၊ ဤစာရသည့် အချိန်မှ စ၍ မိမိအပေါ်တွင် မည်သည့်ကတိကဝတ်မျှ မရှိ တော့ပါကြောင်းဖြင့် ထိုစာ၌ ဖော်ပြထားလေသည်။

"ဆွန်ယာရဲ့ အပေါ် အစစအရာရာ လိုလေသေးမရှိ အောင် စိတ်ကောင်း ထားတဲ့ မိသားစုတွေအတွင်းမှာ ဆွန်ဟို့ကြောင့် အချင်းချင်း စိတ်ဝမ်းကွဲကြ၊ စိတ် ဒုက္ခ  ရောက်ကြလေမလားလို့ တွေးမိတိုင်း ဆွန်ယာစိတ်ထိခိုက် နာကျင်ခြင်း ဖြစ်

ရပါတယ်ကိုကို။ ဆွန်ယာရဲ့ အချစ်မှာ ဆွန်ယာချစ်တဲ့လူတွေရဲ့ စိတ်ချမ်းသာမှုရပါစေဆိုတဲ့ ရည် ရွယ်ချက်ကလွဲလို့ တခြားဘာရည်ရွယ်ချက်မှလဲ မရှိပါ ဘူး ကိုကို။ ဒါကြောင့် ကိုကိုသဘောကျရာကို လွတ်လွတ် လပ်လပ် လုပ်နိုင်ပြီလို့ သဘောထားဖို့ ဆွန်ယာ တောင်း ပန်လိုက်ပါတယ် ကိုကို။ ဒါပေမဲ့ ဘယ်အခြေပဲ ရောက် ရောက် လောကမှာ ဆွန်ယာချစ်တာထက် ဘယ်သူမှ ပိုပြီး ချစ်နိုင်မယ် မဟုတ်ဘူးဆိုတာကိုတော့ ယုံကြည်စေ ချင်ပါတယ်။

ကိုကိုရဲ့ ဆွန်ယာ" စာနှစ်စောင်လုံးမှာ ထရွိုက်ဇာမှ ရေးလိုက်သောစာ များဖြစ်လေသည်။ နောက်တစ်စောင်မှာ ၎င်းတို့ မော် စကိုမြို့တွင် နေထိုင်ခဲ့ကြပုံ၊ ထွက်ခွာလာခဲ့ကြပုံ၊ မော်စကို မြို့ကြီး မီးလောင်ပုံ၊ ၎င်းတို့ပစ္စည်းများ ဆုံးရှုံးပုံတို့ကို ဖော်ပြထားသည့် မြို့စားကတော်ကြီးထံမှ စာဖြစ်လေသည်။ မိမိနှင့် အတူ မော်စကိုမှ ထွက်လာခဲ့ကြသော ဒဏ်ရာရ စစ်သားလူနာများတွင် မင်းသားကလေး အင်ဒရေလည်း ပါဝင်ကြောင်း၊ ၎င်းအခြေအနေမှာ စိုးရိမ်ရကြောင်း သို့ရာ တွင် ယခုအချိန်၌ မျှော်လင့်စရာရှိသေးသည်ဟု သမား တော်ကြီးက ပြောပြကြောင်း၊ ၎င်းကို နာတာရှာနှင့် ဆွန် ယာတို့က ပြုစုလိုက်ပါလာကြောင်းဖြင့်လည်း ထိုစာတွင် မြို့ကစားတော်ကြီးက ဖော်ပြထားလေသည်။

နောက်တစ်နေ့၌ နီကိုလေသည် မိခင်ကြီးထံမှ စာကိုယူကာ မင်းသမီးလေး မေရီထံသို့ ထွက်လာခဲ့သည်။ "နာတာရှာက ပြုစုလိုက်ပါလာသည်"ဟူသော စကားသည် မည်သည့် အဓိပ္ပာယ်ဆောင်ကြောင်းကိုမူ နီကိုလေကသော် လည်းကောင်း၊ မင်းသမီးကလေးမေရီကသော် လည်း ကောင်း ပြောဆိုခြင်း မပြုကြချေ။ သို့ရာတွင် ထိုစာ ကြောင့် နီကိုလေနှင့် မင်းသမီးလေးမေရီတို့မှာ ဆွေမျိုး ရင်းချာများသဖွယ် ရုတ်တရက် ရင်းနှီးလာခဲ့ကြသည်မှာ ကား အမှန်ပင် ဖြစ်လေသည်။

ထိုနောက် တစ်ရက်၌မူ နီကိုလေသည် ယာရိုစလာ ဗာသို့ ထွက်ခွာသွားသည့် မင်းသမီးလေးမေရီအား သွားရောက်နှုတ်ဆက်ပြီးနောက် ရက်များမကြာမီတွင် တပ်ရင်းရှိရာသို့ ပြန်လည်ထွက်ခွာလာခဲ့လေသတည်း။

# အခန်း ၈

ထရှိုက်ဇာမှ ရေးလိုက်၍ နီကိုလေ၏ ဆုတောင်းကို ပြည့်စေသော ဆွန်ယာ၏ စာဖြစ်လာပုံမှာ ဤသို့ဖြစ်၏။ နီကိုလေအား သူကြွယ်၏ သမီးတစ်ယောက်နှင့် ထိမ်း မြားလက်ထပ်ပေးမှ ဖြစ်တော့မည်ဟူသောအသိသည် မြို့ စားကတော်ကြီး၏စိတ်တွင် တစ်စတစ်စ ကြီးစိုးစပြုလာခဲ့ လေသည်။ ဤကိစ္စတွင် ဆွန်ယာသည် အကြီးဆုံး အတား အဆီးကြီးဖြစ်လျက်ရှိခြင်းကို မြို့စားကတော်ကြီး သိ၏။ အထူးသဖြင့် မင်းသမီးလေးမေရီနှင့် ဘိုဂူချာရိုဗိုတွင် တွေ့ ဆုံခဲ့ရပုံကို ဖော်ပြထားသည့် စာတစ်စောင် နီကိုလေ့ထံ မှ ရောက်လာပြီးသည့်နောက်၌ မြို့စားကတော်ကြီး၏ အိမ်တွင် နေထိုင်ရသော ဆွန်ယာ၏ ဘဝမှာ တစ်စထက် တစ်စ ကျဉ်းမြောင်းကျပ်တည်းလာခဲ့လေသည်။ မြို့စား ကတော်ကြီးသည် ဆွန်ယာအား စောင်းပါးရိပ်ခြည် နှိပ်နှိပ် နယ်နယ်ပြောဆိုခြင်း စသည်တို့ကို အချိန်ရှိသရွေ့ ပြုလုပ်လျက်ရှိသည်။

သို့ရာတွင် ၎င်းတို့ မော်စကိုမှ ထွက်ခွာခြင်း မပြု မီ ရက်အနည်းငယ်အလို၌ကား မြို့စားကတော်ကြီးသည် ဇရုတ်သုတ်ခအခြေအနေများကြောင့် အထူးစိတ်တိုလျက်ရှိ ကာ ဆွန်ယာကို ခေါ်ယူလိုက်ပြီးနောက် ခါတိုင်းကဲ့သို့ ပြစ်တင်မောင်းမဲခြင်း၊ တောင်းဆိုခြင်း စသည်တို့ မပြု လုပ်တော့ဘဲ မိမိတို့ တစ်သက်လုံးကျွေးမွေးစောင့်ရှောက် လာသော ကျေးဇူးကို ထောက်၍ နီကိုလေနှင့် ပြတ်ပြတ် စဲစဲဖြစ်အောင် လုပ်ရန် မိမိက အနစ်နာခံ၍ စွန့်လွှတ်ရန် မျက်ရည်စမ်းစမ်းဖြင့် တောင်းပြန်ခြင်း ပြုလေသည်။

“သမီးက ကတိမပေးမချင်း မေဖျားတော့ တရိရိ စိတ်ဆင်းရဲရတော့မှာပါပဲကွယ်”ဟု မြို့စားကတော်ကြီးက ပြော၏။

ဆွန်ယာသည် ချုံးပွဲချင်ိုကြွေးကာ မိမိသည် ကျေးဇူး ရှင်များအတွက် မည်သည့်အရာကိုမဆို လုပ်ပေးမည်ဖြစ် ကြောင်း၊ လုပ်ပေးရန် အဆင်သင့်လည်း ရှိကြောင်းဖြင့် ရှိုက်ကြီးတငင် ပြောဆိုခြင်း ပြုလေသည်။ သို့ရာတွင် မည်သည့်ကတိကိုမျှ ပေးခြင်းမပြုချေ။ မိမိထံ တောင်းဆို ထားသော ကတိကို ပေးရန် စဉ်းစားဆုံးဖြတ်ခြင်းလည်း မပြုနိုင်ချေ။ မှန်ပါသည်။ မိမိအား ငယ်စဉ်တောင်ကျေး မှ စ၍ လူလားမြောက်ကြီးပြင်းသည်အထိ ကျွေးမွေးစောင့် ရှောက်ခဲ့ကြပေသော မြို့စားကတော်ကြီးတို့ မိသားစု အတွက် မိမိက အစစအရာရာ စွန့်လွှတ်အနစ်နာခံရမည်သာ ဖြစ်ပါသည်။ အခြားသူများ၏ အကျိုးအတွက် မိမိ က စွန့်လွှတ်အနစ်နာခံရခြင်းသည်လည်း ဆွန်ယာ၏ စရိုက်ဖြစ်လျက် ရှိလေသည်။ မြို့စားကတော်ကြီး၏ အိမ်တွင် ၎င်းနေရသော အနေအထားမှာလည်း မိမိဘက် က စွန့်လွှတ်မှုကို ပြုနိုင်ပါမှ တန်ဖိုးထား၍ လူရာသွင်းခံ ရမည့် အနေအထားမျိုး ဖြစ်ပါသည်။ ထို့ကြောင့် ဆွန်ယာ သည် ကိုယ်က အနစ်နာခံ စွန့်လွှတ်ရခြင်းကို ကျင့်သား ရလျက်ရှိပါပြီ။ ဤသို့ စွန့်လွှတ် အနစ်နာခံရခြင်းမျိုးကို လည်း ဆွန်ယာနှစ်ခြိုက်ပါသည်။ သို့ရာတွင် ယခင့်ယခင် အနစ်နာခံ စွန့်လွှတ်ခဲ့ရစဉ်ကမူ ဤသို့ စွန့်လွှတ် အနစ်နာခံ ခြင်းကြောင့် မိမိအား ၎င်းတို့က တန်ဖိုးထားကြလေပြီ။ အထင်ကြီးကြလေပြီဟု ပီတိဖြစ်ခဲ့ရပါသည်။ ၎င်းတို့က ထိုသို့ လူရာသွင်း တန်ဖိုးထားခံရသဖြင့် မိမိသည် လောက တွင် ရှိရှိသမျှတို့အနက် အမြတ်နိုးဆုံးဖြစ်သော နီကိုလေနှင့် ထိုက်တန်လေပြီဟု တွေးကာ ဝမ်းသာခြင်းဖြစ်ခဲ့ရသည်။

သို့ရာတွင် ယခုမူကား ၎င်းတို့သည် မိမိက အစစအရာရာ စွန့်လွှတ်ခဲ့ခြင်းကြောင့် ရရှိခဲ့သည့် ဆုလာဘ်ကြီးတစ်ပါး ဖြစ်သော နီကိုလေ၊ မိမိအသက်ရှင်နေရခြင်း၏ အကြောင်း ရင်းတစ်ပါးဖြစ်သော နီကိုလေကို စွန့်လွှတ်ရန် တောင်းဆိုလျက် ရှိကြလေပြီ။ ဆွန်ယာသည် မိမိကျေးဇူးရှင်များအား တစ်သက်တွင် ပထမဆုံးအကြိမ် နာကြည်းခြင်း ဖြစ်မိ လေသည်။ ထိုသို့ နာကြည်းခြင်း ဖြစ်ရ

သည့်အတွက်လည်း စိတ်ဆင်းရဲခြင်း ဖြစ်ရပြန်သည်။ မိမိကဲ့သို့ တစ်ကောင် ကြွက် မျက်နှာငယ်ဘဝမျိုးကို မကြုံတွေ့ရသော နာတာရှာ၊ မည်သည့်အခါကမျှ ကိုယ်က အနစ်နာမခံရသော နာတာ ရှာ၊ သူ့အတွက် သူတစ်ပါးကိုသာ အနစ်နာခံစေသော နာတာရှာကို မနာလိုဝန်တို ဖြစ်မိသည်။ နီကိုလေ့အပေါ် တွင် ထားရှိသော သန့်စင်သည့် အချစ်မှတစ်ဆင့် သင့် မသင့်ကို ခွဲခြားဝေဖန်နိုင်သောဉာဏ်၊ ကောင်းရာကို ပြု လိုစိတ်၊ ဘာသာတရား စသည်တို့ထက် စွမ်းအားကြီးသော ပြင်းထန်သည့် ခံစားချက်တစ်မျိုးသည် ဆွန်ယာ၏ ရင်တဲ၌ ကြီးထွား၍ လာခဲ့လေပြီ။ သူတစ်ပါး အပေါ်တွင် မှီခို အားထားရသော ဘဝသည် အစစအရာရာ လျှို့ဝှက်သိပ် သည်းရန် ဆွန်ယာကို သင်ကြားပေးခဲ့လေပြီ။ ထိုခံစား ချက်၊ ထိုအသိဖြင့် ဆွန်ယာသည် မြို့စားကတော်ကြီးအား မရေရာသောအဖြေကို ပေးကာ မြို့စားကတော်ကြီးနှင့် မျက်နှာချင်းမဆိုင်မိရန် ရှောင်လျက် ရှိလေသည်။ ထိုမှ မက နီကိုလေ ပြန်ရောက်လာလျှင် ၎င်းအား လွတ်လပ် ခွင့်မပေးရုံမျှမက မိမိနှင့် သေတစ်ပန်သက် တဆုံး မခွဲ တမ်း ချည်နှောင်ထားရန် နီကိုလေ ပြန်လာသည်အထိ စောင့်ဆိုင်းရန် ထိုအတောအတွင်း မြို့စားကတော်အား ဝေ့လည်ကြောင်ပတ်အဖြေမျိုးကိုပေးရန် ဆုံးဖြတ်ပြီး ဖြစ် လေသည်။

မြို့စားကြီးရော့စတော့ဗ်တို့မိသားစု မော်စကိုမှ ထွက်ခွာခြင်းမပြုမီ ရက်များ အတွင်းတွင် ပြင်ဆင်ရခြင်း၊ ထိတ်လန့်ကြောက်ရွံ့ရခြင်းများကြောင့် ဆွန်ယာ၏ ညစ်ညှုး ဖွယ်အတွေးများသည် နစ်မြုပ်ပျောက်ကွယ်လျက် ရှိကြ သည်။ ဤအတွေးများမှ လွတ်မြောက်ကာ လက်တွေ့ လုပ်ငန်းများထဲတွင် နစ်မြုပ်နေရခြင်းကိုပင် ဆွန်ယာ ဝမ်းသာမိသေးသည်။ သို့ရာတွင် မိမိတို့ စံအိမ်ဝင်းကြီးထဲသို့ မင်းသားလေး အင်ဒရေး ရောက်ရှိနေသည်ဟု ကြားရသည့် အခါ၌ မင်းသားလေး အင်ဒရေနှင့် နာတာရှာတို့အတွက် စိတ်မကောင်းခြင်း ဖြစ်မိသည် မှန်သော်လည်း ဘုရားသခင် သည် မိမိနှင့် နီကိုလေတို့ နှစ်ဦး ရေစက်ကုန်ကြသည့် အဖြစ်မျိုးကို

ဖန်တီးတော်မမူသေးဟု ဆွန်ယာ ကြံကြံ ဖန်ဖန် တွေးကာ ဝမ်းမြောက်မိသေး သည်။ နာတာရှာသည် မင်းသားကလေး အင်ဒရေတစ်ဦးတည်းကိုသာ မြတ်နိုး ကြောင်း၊ ၎င်း၏အပေါ်တွင် မည်သည့်အခါမျှ အချစ်ပြယ် `မည်မဟုတ်ကြောင်းကို ဆွန်ယာသိ၏။ ဤသို့သော သေ ရေးရှင်ရေးကာလမျိုးနှင့် ၎င်းတို့နှစ်ဦးသည် ပြန်၍ဆက်မိ ကြဦးမည်ကို ဆွန်ယာသိ၏။ ၎င်းတို့နှစ်ဦး ပြန်ဆက်ကြ ခြင်းကြောင့် နီကိုလေနှင့် မင်းသမီးလေးမေရီတို့ လက်ထပ် ၍ ဖြစ်နိုင်မည် မဟုတ်ကြောင်းကို ဆွန်ယာသိ၏။ ထို့ ကြောင့် မော်စကိုမြို့တွင် ၎င်းတို့ နေထိုင်ခဲ့ရသည့် နောက်ဆုံး အချိန်နှင့် ခရီးထွက်ခါစ ပထမအချိန်များတွင် ထိတ်လန့်စဖွယ် ရုတ်ရုတ်သဲသဲ အဖြစ်များကို ကြုံတွေ့ ရ သည့်တိုင် ဘုရားသခင်သည် မိမိတို့၏ ကိုယ်ရေးကိုယ်တာ ကိစ္စများတွင် ဝင်ရောက်ကယ်မလျက်ရှိသည်ဟူသော အတွေး ဖြင့် ဆွန်ယာ ရွှင်လန်းလျက်ရှိခြင်း ဖြစ်လေသည်။ မြို့စားကြီးရော့စတော့ဗ်တို့ မိသားစုသည် ထရွိုက် ဇာဘုန်းကြီးကျောင်းတွင် ပထမဆုံးအကြိမ် တစ်နေ့လုံး စခန်းချရပ်နားကြ၏။

ဘုန်းတော်ကြီးကျောင်း၌ သာလာယံဇရပ်အခန်း ကြီးသုံးခန်းတွင် ၎င်းတို့ အား နေရာချပေးရာ တစ်ခန်းကို မင်းသားကလေး အင်ဒရေအတွက် သီးသန့်ပေး ထားသည်။ မင်းသားကလေးအင်ဒရေမှာ ထိုနေ့က များစွာ ဒဏ်ရာ သက်သာ လျက် ရှိ၏။ နာတာရှာကလည်း အပါးတွင် ထိုင်ကာ ပြုစုလျက် ရှိလေသည်။ ကပ် လျက်အခန်းတွင် မူ မြို့စားကြီးရော့စတော့ဗ်နှင့် မြို့စားကတော်ကြီးတို့သည် ကျောင်းထိုင်ဆရာတော်ကြီးကို ကြည်ညိုကာ ၎င်းနှင့် စကား စမြည်ပြောလျက် ရှိ ကြသည်။ မြို့စားကြီးရော့စတော့ဗ်တို့ မိသားစုမှာ ဆတော်ကြီးနှင့် အသိအကျွမ်း များဖြစ်ရုံမျှမက ကျောင်းဒကာများလည်း ဖြစ်ကြ၏။ ဆွန်ယာသည် မြို့ စားကြီး ရော့စတော့ဗ်တို့နှင့် အတူထိုင်ကာ မင်းသား ကလေး အင်ဒရေနှင့် နာတာရှာတို့ ပြောဆိုလျက်ရှိသော စကားများကို သိလိုစိတ် ပြင်းထန်လျက် ရှိသည်။ ခဏကြာ

လျှင် တံခါးပွင့်လာကာ နာတာရှာသည် ထိတ်လန့်တုန် လှုပ်သော အမူအရာဖြင့် ထွက်လာ၏။ သက်န်းကို ပြရုံ ရင်း မိမိအား နှုတ်ဆက်လျက်ရှိသော ဆတော်ကြီး ကိုပင် သတိမပြုမိဘဲ နာတာရှာသည် ဆွန်ယာထံသို့ လျှောက် လာပြီး လက်ကို ဆွဲလိုက်သည်။

"သမီးထွေး ဘယ်သွားနေသလဲ။ ဆတော်ဘုရား ကို ဝတ်ပြုဦးလေ"မြို့စား ကတော်ကြီးက ပြော၏။

နာတာရှာသည် ဆတော်ဘုရားအနီးသို့ လျှောက် လာကာ ဝတ်ပြု၏။ ဆ တော်ကြီးက ဘုရား တရားကို နှလုံးသွင်းရန်၊ ရှင်ဆာဂျီးယပ်စ် (၎င်းမှာ ထရွိုက်ဇာ ကျောင်းကြီးကို တည်ဆောက်သွားသူ ဆတော်ကြီး ဖြစ် သည်။) ကို ဆည်းကပ်ရန် မြွက်ကြားလေသည်။

ဆတော်ကြီး ကြွသွားသည်နှင့် တစ်ပြိုင်နက် နာတာရှာသည် ဆွန်ယာလက် ကို ဆွဲကာ အခန်းလွတ် တစ်ခုသို့ ခေါ်သွားသည်။

"သူ အသက်မှ ရှင်ပါဦးမလား ဆွန်ယာ ဟင်" နာတာရှာက မေးလိုက်သည်။ "နာတာရှာ သိပ်ပျော်တာပဲ ဆွန်ယာရယ်၊ သိပ်ဝမ်းသာတာပဲဆွန်ယာ။ အားလုံး ချောချောမောမော ဖြစ်ပါလိမ့်မယ်။ ထင်ပါတယ်နော်။

သူသာ အသက်ရှင်ရင် သိပ်ကောင်းမှာပဲနော်။ ဒါပေမဲ့ ဒါပေမဲ့ နာတာရှာ သိပ်တော့မထင်"

နာတာရှာ မျက်ရည်များကို သွန်ချလိုက်သည်။

"သူ မသေပါဘူး၊ နာတာရှာ၊ ဆွန်ယာ သိပါ တယ်။ ဘာမှမဖြစ်ပါဘူး" ဆွန် ယာက လေသံကလေး ဖြင့် ပြောလိုက်သည်။

ပြောမည့်သာပြောရသည်။ ဆွန်ယာကိုယ်တိုင်မှာ လည်း နာတာရှာ၏ သောကကြောင့်လည်းကောင်း၊ မိမိ တစ်ဦးတည်း ကြိတ်မှိတ်ခံစားနေရသည့် ခံစားချက်များ ကြောင့် လည်းကောင်း များစွာ အားမရှိလှပါ။ နာတာရှာ ကဲ့သို့ပင် ချောက်ချားလျက် ရှိပါသည်။ ဆွန်ယာသည် ငိုရှိုက်လျက် ရှိရာမှ နာတာရှာကို နမ်းရှုပ်ကာ ချော့မော့ လျက် ရှိလေသည်။ "အင်ဒရေအသက်ရှင်ရင်တော့ အတိုင်းထက် အလွန်ပဲ"ဟုလည်း တွေးမိသည်။ ဆွန်ယာနှင့် နာတာရှာတို့ နှစ်ဦးသည် အားရအောင် ငိုကြ၏ ။ စကား ပြောကြ၏။ မျက်ရည်များကို သုတ်ကြ၏။ ထို့နောက် မင်းသားကလေး အင်ဒရေ၏ အခန်းဘက်သို့ လာခဲ့ကြ သည်။ နာတာရှာသည် သတိကြီးစွာဖြင့် တံခါးကို ဖွင့် လိုက်ပြီးနောက် အထဲသို့ လှမ်းကြည့်လိုက်သည်။ ဆွန်ယာ က ခပ်ဟဟဖြစ်နေသော တံခါးအနီးရှိ နာတာရှာ့ဘေး တွင် ရပ်လျက်ရှိသည်။

မင်းသားကလေး အင်ဒရေသည် မှီအုံးသုံးလုံးကို ဆင့်ကာ ခပ်မတ်မတ်မှီရင်း လဲလျောင်းလျက် ရှိ၏။ ၎င်း၏ ဖြူဖျော့သော မျက်နှာသည် တည်ငြိမ်လျက်။ မျက်လုံးများသည် မှိတ်လျက်။

မင်းသားကလေး အင်ဒရေ ခပ်မှန်မှန် အသက်ရှူ နေခြင်းကို ၎င်းတို့နှစ်ယောက် မြင်ကြရသည်။

"နာတာရှာ" ဆွန်ယာက ရုတ်တရက် အော်ကာ နာတာရှာ၏ လက်မောင်းကို ဆွဲ၍ နောက်သို့ ဆုတ်လိုက် သည်။

"ဘာလဲဆွန်ယာ၊ ဟင် ဘာလဲ" နာတာရှာက မေး၏။

"ဟို၊ ဟို အတူတူပဲ တစ်ထေရာတည်းပဲ" ဆွန်ယာ • က ဤမျှသော ပြောနိုင်သည်။ ၎င်း၏မျက်နှာသည် ဖြူ ရော်ကာ နှုတ်ခမ်းများသည် တုန်လျက်ရှိကြ၏။

နာတာရှာသည် တံခါးကို အသာအယာပြန်ပိတ်  ပြီးနောက် ဆွန်ယာနှင့် အတူ ပြတင်းဝသို့ လာခဲ့သည်။ ဆွန်ယာ၏စကားကိုလည်း နားမလည်နိုင်အောင် ဖြစ် လျက်ရှိသည်။ . "နာတာရှာ မှတ်မိသေးလားဟင်" ဆွန်ယာက လေးနက် ထိတ်လန့်သော အမူအရာဖြင့် မေးလိုက်သည်။ "အိုထရာနို နာတာလူး ပွဲတော် တုန်းက နာတာရှေ့အတွက် ဆွန်ယာ မှန်ဗေဒင် ကြည့်ပေးခဲ့တာလေ။ အဲဒီတုန်း က ဆွန်ယာ မြင်ခဲ့ရတာကို နာတာရှာ မှတ်မိသေးလား"

"မှတ်မိတယ်၊ မှတ်မိတယ်" နာတာရှာက မျက်လုံး အပြူးသားဖြင့် ပြော လိုက်၏။ ထိုစဉ်က မင်းသားကလေး အင်ဒရေ လဲလျောင်းလျက်ရှိခြင်းကို မှန်ထဲ တွင် မြင်ရ ကြောင်း ဆွန်ယာက ပြောပြခဲ့ဖူးသည်ကို နာတာရှာ ဇဝေဇဝါဖြစ်လျက် ရှိ၏။

"မှတ်မိသေးတယ်နော်"ဆွန်ယာက ဆက်လိုက် သည်။ "အဲဒီတုန်းက ဆွန် ယာမြင်ခဲ့ရတာကို နာတာရှာ နဲ့ ဒွန်ယာရှာကို ပြောခဲ့သေးတယ်လေ။ သူက အိပ်ရာ ပေါ်မှာ လှဲလို့"

ဆွန်ယာက အသေးစိတ်တစ်ခုစီကို ပြန်ပြောတိုင်း လက်ချောင်းကလေးတစ် ချောင်းကို ထောင်ကာ လက် ဟန်ခြေဟန်ဖြင့် ပြော၏။

"သူက မျက်လုံးတွေကို မှိတ်ထားပြီး ပန်းရောင် စောင်ကြီးတစ်ထည်ကို ခြုံ လို့၊ လက်ကို ရင်ဘတ်ပေါ် တင်လို့"

ဆွန်ယာက စကားစသတ်လိုက်သည်။ ယခုတွေ့ မြင်ရသော ရှုခင်းသည် မှန် ထဲတွင် မိမိမြင်ရသော ရှုခင်း နှင့် တစ်ထပ်တည်း ဖြစ်လျက်ရှိသည်ဟုလည်း ထင် နေ သည်။

စင်စစ်တွင်မူ ဆွန်ယာသည် ထိုစဉ်က မည်သည့် အရာကိုမျှ မြင်ခဲ့ခြင်း မဟုတ်ချေ။ ခေါင်းထဲတွင် ပေါ်လာ သမျှကို ကောက်ကာငင်ကာ ပြောလိုက်ခြင်းသာ ဖြစ်သည်။ သို့ရာတွင် ထိုစဉ်က မိမိတီထွင်ပြောခဲ့သမျှသည် တကယ် မြင်ခဲ့သည်ဟု ထင်လျက် ရှိလေသည်။ ထိုစဉ်က မင်းသား ကလေးအင်ဒရေက မိမိကိုပင် လှမ်းကြည့်ကာ ပြုံးပြခဲ့သေး ကြောင်း၊ နီနီရဲရဲအရာကြီးတစ်ခုကို ခြုံထားကြောင်းဖြင့် ထိုစဉ်က ပြောခဲ့ပုံကိုလည်း ဆွန်ယာမှတ်မိနေသည်။ သို့ ရာတွင် ယခုမူ မင်း သားကလေးမှာ မျက်လုံးများမှိတ်ကာ  ပန်းနုရောင်စောင်ကြီး ခြုံလျက်မြင်ခဲ့ရသည်ဟု ဆွန်ယာ တကယ်ယုံကြည်လျက် ရှိလေပြီ။

"ဟုတ်တယ်၊ ဟုတ်တယ်။ ပန်းရောင်စောင်ကြီး ကို ခြုံလို့တဲ့" ထိုစဉ်က ပန်းနုရောင်စောင်ကို ခြုံနေသည် ဟု ဆွန်ယာက ပြောခဲ့သယောင် နာတာရှာ ထင်လာပြန် သည်။ ယခု မင်းသားကလေး အင်ဒရေ၏ အဖြစ်သည် ထိုစဉ်က ၎င်းတို့ မြင်ခဲ့သည့်အတိုင်းဟု ထင်မှတ်မိသည်။

"ဒါ ဘယ်လိုနိမိတ်လဲ၊ ဟင် ဆွန်ယာ" နာတာ ရှာက ခပ်ဝေးဝေး စဉ်းစားနေရာမှ မေးလိုက်သည်။

"ဟင့်အင်း၊ ဒါတော့ ဆွန်ယာမသိဘူး။ ထူးတော့ ထူးတာပဲ" ဆွန်ယာက ခေါင်းကို လက်နှစ်ဖက်ဖြင့် အုပ် ၍ ပြောသည်။

ခဏကြာလျှင် မင်းသားကလေးအင်ဒရေက ခေါင်းလောင်းတီးခေါ်သဖြင့် နာတာရှာသည် အထဲသို့ ဝင်သွားလေသည်။ ဆွန်ယာမှာမူ ခါတိုင်းထက် စိတ်လှုပ်ရှား ထိခိုက်လျက်ရှိကာ ပြတင်းဝတွင် ရပ်ရင်း ထူးခြား ဆန်းကြယ်လှသည့်အဖြစ်ကို တွေးလျက် ရှိလေသည်။

ထိုနေ့၌ တပ်သို့ စာရေးခွင့်ရလေရာ မြို့စား ကတော်ကြီးသည် ၎င်း၏သားနီကိုလေထံသို့ စာရေးလျက် ရှိသည်။ အနားမှ ဆွန်ယာဖြတ်သွားသည်နှင့် မြို့စား

ကတော်ကြီးသည် စာရေးနေရာမှ ခေါင်းမော့ကာ

"ဆွန်ယာ၊ နီကိုလေ့ဆီသို့ စာမရေးတော့ဘူးလား" ဟု ပျော့ပျောင်းတုန်ယင်သောအသံဖြင့် မေးလိုက်သည်။ မျက်မှန်ပေါ်မှ ကျော်ကြည့်လျက်ရှိသော ၎င်း၏ ပင်ပန်း နွမ်းနယ်သည့် မျက်လုံးများ၌ မြို့စားကတော်ကြီး ဆိုလို ချင်သည့် အဓိပ္ပာယ် အထင်းသားပေါ်လျက် ရှိခြင်းကို ဆွန်ယာ သတိပြုလိုက်မိ၏။ တောင်းပန်တိုးလျှိုးခြင်း၊ ဆွန်ဟို့အား ဤသို့တောင်းပန်တိုးလျှိုးရသည့်အတွက် အရှက်ရခြင်း၊ ဆွန်ယာက ငြင်းပယ်မည်ကို စိုးရိမ်လျက် ရှိခြင်း၊ ငြင်းပယ်လိုက်ပါက မိမိအား အမုန်းကြီးမုန်းရန် အဆင်သင့်ဖြစ်လျက်ရှိခြင်း စသည့် အဓိပ္ပာယ်သည် ထို မျက်လုံးများတွင် အထင်းသား ပေါ်လျက် ရှိလေသည်။

"ဟုတ်ကဲ့ မေဖျား။ ဆွန်ယာ ရေးမှာပါ"

ဆွန်ယာသည် ထိုနေ့က အဖြစ်အပျက်များ၊ အထူး သဖြင့် မှန်ထဲတွင် မိမိ မြင်ခဲ့ရသောရှုခင်းနှင့် ထူးဆန်းစွာ လာ၍ တိုက်ဆိုင်လျက်ရှိသော အဖြစ်အပျက် များကြောင့်  စိတ်လှုပ်ရှား ထိခိုက်လျက်ရှိကာ နူးညံ့ချိုသာလျက် ရှိလေ သည်။ ယခုမူ နာတာရှာနှင့် မင်းသားကလေးအင်ဒရေ တို့၏ကိစ္စ အသစ်တစ်ဖန် ပြန်ဖြစ်လာခြင်းကြောင့် နီကို လေနှင့် မင်းသမီးကလေးမေရီတို့ လက်ထပ်ဖို့သည် မဖြစ်နိုင်တော့ကြောင်း ဆွန်ယာ သိလေပြီ။ မိမိရင်၌ ကိန်းအောင်းခဲ့ဖူး၍ ယခုလည်း ကိန်းအောင်းစေလိုသော စွန့်လွှတ်အနစ်နာခံရခြင်းစိတ်ဓာတ်သည် မိမိရင်တွင်းသို့ ပြန်လည်ဝင်ရောက်လာခဲ့လေပြီဟူသော အသိဖြင့် ဝမ်း မြောက်လျက် ရှိလေ သည်။ သို့ဖြင့် ရက်ရောသဘောထား ကြီးရသော အလုပ်ကြီးတစ်ခုကို ဆောင်ရွက်ရလေပြီဟု သော ပီတိလွှမ်းသောအသိဖြင့် ၎င်း၏ ကတ္တီပါကဲ့သို့ နူးညံ့ နက်မှောင်သော မျက်လုံးများတွင် မျက်ရည်များ မကြာမကြာ မှုန်မှိုင်းရစ်ဝဲလျက်ရှိ

ရင်းက နီကိုလေအား . အံ့အားသင့်စေသည့် ဖော်ပြပါရင်ထဲက ထွက်လာသော စာကို ဆွန်ယာရေးခဲ့ခြင်း ဖြစ်ပါသတည်း။

# အခန်း ၉

ပီယာကို ချုပ်နှောင်ထားရာ အချုပ်စခန်းတွင် ၎င်းအား ဖမ်းဆီးခဲ့ကြသည့် တပ်ဗိုလ်တပ်သားများက ငြိုးသူရန်ဘက် ပမာ ဆက်ဆံကြသော်လည်း လေးလေးစားစားရှိဟန် ပြကြ၏။ မည်သူမည်ဝါဟု ရေရာစွာ မသိသေးခြင်း (အလွန် အရေးကြီးသည့် ပုဂ္ဂိုလ်တစ်ဦးဟုကား ယူဆ ထားကြပုံရ၏။) ၎င်းတို့နှင့် မကြာခင်ကမှ ပဋိပက္ခဖြစ်ခဲ့ သည့်အတွက် ရန်လိုခြင်း စသည့် အသွင်နှစ်မျိုးစလုံး ၎င်းတို့၏ သဘောထားထဲ၌ ပေါ်လွင်လျက် ရှိလေသည်။

သို့ရာတွင် နောက်တစ်နေ့ နံနက်သို့ ရောက်၍ အစောင့်များ လဲသွားသည့် အခါ၌ကား အစောင့်တပ်ဗိုလ် တပ်သားသစ်များသည် မိမိကို ဖမ်းဆီးလာခဲ့သူများ ကဲ့သို့ မိမိအား စိတ်ဝင်စားခြင်း မရှိတော့ပြီဟု ပီယာက ယူဆ လိုက်သည်။ စင်စစ်၌လည်း ဒုတိယနေ့ အစောင့်များအဖို့ လယ်သမားအင်္ကျီကြီးကို ဝတ်ထား သည့် ဤထောင်ထောင် မောင်းမောင်း ဝဝဖိုင့်ဖိုင့်ပုဂ္ဂိုလ်သည် လုယက်သူ၊ ပြင်သစ် တပ်သားများ၊ ကင်းတပ်သားများနှင့် အပြင်းအထန်သတ် သုတ်ပုတ်ခဲ့သူ၊ ကလေးတစ်ယောက်ကို မီးထဲမှ ကယ် ဆယ်ခဲ့သူဟု မသိကြတော့ချေ။ ၎င်းတို့ အဖို့၌ ပီယာသည် အထက်တန်း စစ်အာဏာပိုင်များ၏ အမိန့်အရတစ်စုံတစ်ခု သော အကြောင်းကြောင့် ဖမ်းဆီးချုပ်နှောင်ခြင်းခံရသည့် ရုရှားလူမျိုးများအနက် နံပါတ်-၁၇ဖြစ်သည်ဟုသာ သိကြ တော့သည်။ ပီယာနှင့် ပတ်သက်၍ ၎င်းတို့ အမြင်၌ ထူးခြားချက်ရှိသည်ဆိုလျှင် ၎င်းမှာ ပီယာ ခပ်ဝေးဝေး ခပ်ငိုင်ငိုင်အမူအရာ နှင့် ၎င်းတို့က ငေး၍ နားထောင်ရ လောက်သည့် ပြင်သစ်စကားပြောကောင်းခြင်း

သာ ဖြစ်ပေ လိမ့်မည်။ သို့တစေ ပီယာတစ်ဦးတည်းကို ချုပ်နှောင်ထား သည့် အခန်းမှာ ပြင်သစ်စစ်ဗိုလ်တစ်ဦးက အလိုရှိသည့် အတွက် ထိုနေ့တွင် ပီယာကို အခြားသော အချုပ်သားများ နှင့်အတူ ရောနှောထားလိုက်ကြလေသည်။

ပီယာနှင့်အတူ အချုပ်ခံရသူများမှာ အောက်ဆုံး အလွှာ လူတန်းစားများမှ လာသူများသာ ဖြစ်ကြသည်။ ပီယာအား သူကောင်းမျိုးနွယ်တစ်ဦးဟု သိရ၍ အထူး သဖြင့် ပြင်သစ်စကားပြောဆိုသံကို ကြားရသောအခါတွင် ၎င်းတို့အားလုံးက ခပ်ရှောင်ရှောင် လုပ်ကြသည်။ မိမိအား ရယ်စရာလူတစ်ယောက်သဖွယ် ပြောဆိုနေကြခြင်းကို ကြားရသောအခါတွင် ပီယာသည် ဝမ်းနည်းလာလေသည်။

ဤအကျဉ်းသားများအားလုံး (မိမိလည်း ပါနိုင် သည်။) ကို မီးရှို့မှုဖြင့် စစ်ဆေးမည်ဟု ထိုနေ့ညတွင် ကြားရလေသည်။ တတိယနေ့၌ အခြားသော အကျဉ်း သားများနှင့်အတူ ပီယာကို အိမ်တစ်အိမ်သို့ ခေါ်သွားကြ သည်။ မုတ်ဆိတ်မွေးဖြူဖြူ ပြင်သစ်ဗိုလ်ချုပ်တစ်ယောက် နှင့် ဗိုလ်မှူးကြီးနှစ်ယောက် အပြင် လက်ပတ်များ တပ်ဆင် ထားသည့် ပြင်သစ်အမျိုးသားအချို့ကိုလည်း ထို အိမ်၌ တွေ့ရ၏။ အကျဉ်းသားများကို စစ်ဆေးမေးမြန်းရာတွင် တွေ့ရမြဲထုံးစံဖြစ် သည့် တိကျတင်းမာသော အမူအရာ၊ ခြောက်လှန့်သော လေသံမျိုးဖြင့် ပီယာကို လည်း အမည်၊ နေရပ်၊ အလုပ်အကိုင်၊ အဘယ့်ကြောင့် အဖမ်းခံရသည် စသည့် မေးခွန်းများကို အခြားသူများအား မေးမြန်းသည့် နည်းတူ မေးမြန်းစစ်ဆေးကြ လေသည်။

၎င်းတို့မေးသော မေးခွန်းမှန်သမျှသည် အမှုစစ် ဆေးရာတွင် မေးမြန်းလေ့ရှိသော မေးခွန်းများ ထုံးစံအတိုင်း အရေးကြီးသော အချက်အလက်ဟူသမျှကို ချန်လှပ်ထား ခဲ့ကာ သက်ဆိုင်ခြင်းမရှိသော အချက်အလက်များကို မေးမြန်းသည့် မေးခွန်းမျိုးများသာ ဖြစ်လေသည်။ ၎င်း   တို့ မေးမြန်းသော မေးခွန်းများ၏

ရည်ရွယ်ချက်သည်လည်း အမှုမှန်ကို ရောက်ရေးမဟုတ်ဘဲ တရားခံထံမှ ၎င်းတို့လို ချင်သောအဖြေမျိုး၊ စီးဆင်းလာအောင် မြောင်းဖောက်ပေး ရန်၊ သို့စီးဆင်းလာသည်နှင့် တစ်ပြိုင်နက် ၎င်းတို့၏ အဆုံးစွန် ရည်ရွယ်ချက်ဖြစ်သော ပြစ်ဒဏ်စီရင်ခြင်းဟူသည့် တာတမံကြီး လုပ်လိုက်ရန်သာ ဖြစ်လေသည်။ ထိုရည်ရွယ် ချက်ကြီးနှင့် ကိုက်ညီခြင်း မရှိသော စကားကို ပီယာက စတင်ပြောဆိုသည်နှင့် တစ်ပြိုင်နက် ၎င်းတို့ဖောက်ထား သော မြောင်းကြီးသည် ကောသွားကာ ရေသည် မလိုရာသို့ စီးဆင်းသွားခဲ့ရလေပြီ။ ထိုမှုမက အမှုစစ်ဆေးရာတွင် တရားခံတို့ တွေ့ကြုံမြဲ ဖြစ်သည့်အတိုင်း ဤမဆီမဆိုင် မေးခွန်းများကို အဘယ်ကြောင့် မေးမြန်းခြင်း ပြုနေရသေး သနည်းဟုလည်း ပီယာ တအံ့တဩ တွေးမိသေးသည်။ ဤသို့ အာဏာပိုင်များက မဆီမဆိုင် မေးခွန်းများကို မေး ၍ မြောင်းဖောက်သည့် စနစ်ကို ကျင့်သုံးနေခြင်းမှာလည်း ယဉ်ကျေးဟန်၊ တရားဥပဒေအရ ပြုလုပ်ရဟန် ဆောင်နေ ခြင်းမျှသာ ဖြစ်သည်ဟု ပီယာ ခံစားမိသည်။ စင်စစ်၌မူ မိမိသည် အာဏာပိုင်တို့၏ လက်ခုပ်တွင်းမှ ရေမျှသာ မဟုတ်လော။ မိမိအား အတင်းအကျပ် ဖမ်းဆီးခေါ်ဆောင် လာခဲ့ကြပြီ မဟုတ်လော။ မိမိအား အတင်းအကျပ်အာဏာ ( သုံး၍ ၎င်းတို့၏မေးခွန်းများကို အဖြေခိုင်းနေပြီ မဟုတ်လော။ ယခုကဲ့သို့ စစ်ဆေးမေးမြန်းခြင်း တစ်ခုတည်းသော ရည်ရွယ်ချက်သည် မိမိအား အပြစ်ပေးရန်သာမဟုတ်လော။ သို့ဖြစ်ရကား ၎င်းတို့၏အာဏာနှင့် အပြစ်ပေးပိုင်ခွင့် ရှိနေပြီ ဖြစ်သည့်အလျောက် ယခုကဲ့သို့ စုံစမ်းမေးမြန်းဟန်၊ အမှုစစ်ဆေးဟန်ပြုနေခြင်းသည် လိုအပ်ပါသေးသလော။ မည်သည့်အဖြေမျိုးကို ပေးသည်ဖြစ်စေ၊ မိမိအား ပြစ်ဒဏ် ပေးကြတော့မည်မှာ ထင်ရှားနေပြီ မဟုတ်ပါသလော။ အဖမ်းခံရစဉ်က ဘာလုပ်နေသနည်းဟု မေးမြန်းသောအခါ ၌ မိမိသည် မီးထဲမှ ဆွဲထုတ်ခဲ့သော ကလေးငယ်တစ် ယောက်ကို ၎င်း၏ မိဘများထံပြန်အပ်ရန် လိုက်လံ ရှာ ဖွေလျက် ရှိကြောင်းဖြင့် ပီယာက ဝမ်းပန်းတနည်းဖြင့် ပြောလိုက်

သည်။ အဘယ်ကြောင့် ပြင်သစ်တပ်သားများကို သတ်ပုတ်ခြင်း ပြုသနည်း။ "ဤသည်မှာ အမျိုးသမီးတစ်ဦး ကို ကာကွယ်ခြင်းဖြစ်ကြောင်း၊ အစော်ကားခံရသော အမျိုးသမီးတစ်ဦးကို ကာကွယ်ခြင်းမှာ ယောက်ျားတိုင်း၏ တာဝန်ဖြစ်ကြောင်း၊ ထို့ပြင်" ၎င်းတို့က ပီယာ၏အဖြေ ကို ဟန့်တားလိုက်ကြသည်။ ဤသည်မှာ ၎င်းတို့လိုချင် သောအဖြေမဟုတ်ချေ။ အဘယ်ကြောင့် မီးလောင်လျက်ရှိ သော အိမ်ဝင်းတစ်ဝင်းထဲတွင် ရောက်နေရသနည်း။ သို့ ရောက်နေကြောင်းကို မျက်မြင်သက်သေရှိသည် မဟုတ် လော။ ၎င်းမှာ မော်စကိုမြို့၏ အခြေအနေကို လျှောက် ကြည့်ရန်အတွက် လာခဲ့ခြင်း ဖြစ်သည်ဟု ပီယာက ဖြေ သည်။ ဤတွင်လည်း ၎င်းတို့က ဟန့်တားလိုက်ကြပြန် သည်။ ၎င်းတို့က တရားခံသည် မည်သည့်နေရာသို့ သွားနေသနည်းဟု မေးမြန်းခြင်းဖြစ်ကြောင်းဖြင့် ပြော ကြပြန်သည်။ တစ်ဖန် ပီယာက ယခုတိုင် ဖြေဆိုရန် ငြင်းဆန်လျက်ရှိသော မေးခွန်းကို မေးကြပြန်သည်။ မည် သူနည်း။ ထိုမေးခွန်းကို ဖြေဆိုခြင်း မပြုနိုင်ဟု ပီယာက ငြင်းပြန်သည်။

"တော်ပြီ၊ တော်ပြီ။ သူပြောတဲ့အတိုင်းသာ မှတ် ထားလိုက်။ သောက်ဒုက္ခရောက်ချင်ပြီ ထင်တယ်"

မုတ်ဆိတ်ဖြူဖြူ မျက်နှာနီနီနှင့် ဗိုလ်ချုပ်က မျက်နှာထားကြီးဖြင့် အော် လိုက်သည်။

စတုတ္ထနေ့၌ ဇူဘော့စကီခံတပ်ကို မီးစွဲလောင် လေသည်။

ပီယာနှင့် အခြားအကျဉ်းသား ဆယ့်သုံးယောက် ကို ကရိုင်းမီးယန်း တံတားအနီးရှိ ကုန်သည်တစ်ဦး၏ အိမ်ဝင်းအတွင်းမှ ရထားတဲတစ်ခုသို့ ပြောင်းရွှေ့ချုပ်နှောင် ထားလိုက်ကြလေသည်။ ပြောင်းရွှေ့လာခဲ့စဉ် လမ်းတစ် လျှောက်၌ မီးခိုးတွေ မွှန်ကာ အသက်ရှူ၍ မရနိုင်အောင် ဖြစ်ရသည်။ မီးခိုးလုံးကြီးများသည် တစ်

မြို့လုံးကို ဖုံး အုပ်လျက် ရှိလေသည်။ အရပ်ရှစ်မျက်နှာတွင် မီးတောက် များကို သာ မြင်နေရပေသည်။ သို့တိုင်အောင် မော်စကို မြို့ကြီး မီးလောင်ခြင်းသည် ဤမျှ လောက် ကြီးကျယ်လိမ့် မည်ဟု ပီယာမထင်မိသေးချေ။ ပီယာသည် မီးတောက် ကြီး များကို ထိတ်လန့်တကြား ကြည့်မိသည်။

ကရိုင်းမီးယန်းတံတားအနီးရှိ ရထားတဲတွင် ပီယာ သည် လေးရက်ကြာမျှ အချုပ်ခံခဲ့ရသည်။ ထိုအတောအတွင်း ၌ မိမိတို့၏ ပတ်သက်၍ စစ်သူကြီးထံမှ မ ကြာမီ အမိန့် ရောက်လာလိမ့်မည်ဟု ပြင်သစ်စစ်သားများ ပြောဆိုနေသံ ကို ပီယာ ကြားရလေသည်။ မည်သည့်စစ်သူကြီး ဖြစ် ကြောင်းကိုကား ပီယာမသိရချေ။ ပြင် သစ်စစ်သားများကမူ “စစ်သူကြီးသည် အလွန်မြင့်မား၍ အလွန်သိရခက်ခဲသော အာဏာစက်ကို ကိုယ်စားပြုသူဟု ထင်မှတ်နေဟန် ရှိ၏။

အကျဉ်းသားများအား ဒုတိယအကြိမ် စစ်ဆေးခြင်း ပြုသည့် စက်တင်ဘာလ ၈ ရက်မတိုင်မီ ခပ်စောစောရက် များကား ပီယာအဖို့ အဆင်းရဲ ဆုံးနေ့များ ဖြစ်ပေသတည်း။

# အခန်း ၁၀

စက်တင်ဘာ ၈ ရက်နေ့၌ အကျဉ်းသားများထားရာ ရထားတဲသို့ တပ်ဗိုလ် တစ်ယောက် ဝင်ရောက်လာလေ သည်။ အစောင့်များ ပျာပျာသလဲဖြစ်ပုံကို ထောက်လျှင် အရေးကြီးသော ပုဂ္ဂိုလ်တစ်ယောက်ပင် ဖြစ်တန်ရာသည်။ စစ်ဦးစီး ဌာန အရာရှိတစ်ဦးဖြစ်ဟန်တူသော ထိုတပ်ဗိုလ် သည် စာရွက်တစ်ရွက်ကို ကိုင် ကာ ရုရှားလူမျိုးများအားလုံး ကို ခေါ်ထုတ်လျက် ရှိသည်။ ပီယာအလှည့်သို့ ရောက် သော် “အမည်မဖော်သူ”ဟု ခေါ်လိုက်၏။ တပ်ဗိုလ်သည် အကျဉ်းသား အားလုံးကို ကြည့်သည်ဆိုရုံမျှ ပမာမခန့် လှမ်းကြည့်လိုက်ကာ ၎င်းတို့ကို

အဝတ်အစားသပ်ရပ် သန့်ရှင်းစွာ ဝတ်စေ၍ စစ်သူကြီးထံ ခေါ်လာခဲ့ရမည်ဟု တာဝန်ကျ တပ်ဗိုလ်ကို အမိန့်ပေးလိုက်သည်။ တစ်နာရီ ခန့်ကြာလျှင် တပ်စု ကလေးတစ်စု ရောက်လာကာ ပီယာ နှင့် အခြားအကျဉ်းသား တစ်ဆယ့်သုံးဦးခန့် ကို ဗာဂျင်ကွင်း ပြင်ကြီးဆီသို့ ခေါ်ထုတ်လာ၏။ ထိုနေ့မှာ သာယာလျက် ရှိ၍ မိုးတစ်ပြိုက်ရွာအပြီးတွင် နေရောင်ဝင်းလျက်ရှိသည်။

လေကလည်း ခါတိုင်းထက် လတ်ဆတ်သန့်ရှင်းနေသည်။ ဇူဘော့စကီ ခံတပ်အချုပ်မှ ပီယာတို့ ပြောင်းရွှေ့ခဲ့ရသည့် နေ့ကကဲ့သို့ မီးခိုးလုံးကြီးများ ဖုံးအုပ် နေခြင်း မရှိတော့ ချေ။ မီးခိုးလုံးများသည် လတ်ဆတ်သန့်ရှင်းသော လေထဲ တွင် ကျောက်တိုင်ကြီးများသဖွယ် အထက်သို့ တက်လျက် ရှိလေသည်။ မီးတောက်များ ကို မမြင်ရတော့သော်လည်း မီးခိုးတန်းကြီးများသည် အရပ်ရှစ်မျက်နှာတွင် ဆိုင်း လျက် ရှိကြ၏။ ပီယာမျက်စိတစ်ဆုံး မြင်ရသလောက် ဆိုလျှင် မော်စကိုမြို့ကြီးမှာ မီးလောင်ကျွမ်းထားသော အပျက်အစီး လွင်ပြင်ကြီး ဖြစ်လျက် ရှိလေပြီ။ မည် သည့်နေရာကို ကြည့်ကြည့် မီးခိုးခေါင်းတိုင်များ၊ မီးလင်းဖို ကြီးများသာ အထီးတည်းကျန်တော့သည်။ အပျက်အစီး လဟာပြင်ကြီး ဖြစ်လျက် ရှိလေပြီ။ မည်းနက်နေသော တိုက်နံရံများကို လည်း ကွက်တိကွက်ကျား မြင်ရ၏။ ပီယာ သည် အပျက် အစီးများကို ငေးကြည့်မိသည်။ မိမိသိကျွမ်း နှံ့စပ်သော ရပ်ကွက် များကို ပီယာ မမှတ်မိပြီ။ တစ်ခါတစ်ရံတွင် မီး ကွင်းသွားသော သုခမ္မာဇရပ်များကို လည်း မြင်ရလေသည်။ အကောင်းပကတိ ကျန်နေသေးသော ကရင်မလင်နန်းမြို့ ရိုးကြီးသည် ပြအိုးများနှင့်တကွ အိုင်ဗင်ဘုရင်ကြီး တည် ဆောက်ခဲ့သည် ဗဟိုစည် စင်ကြီးနှင့်အတူ အဝေးတွင် ဖြူ ဖွေးဝင်းလက်လျက် ရှိလေသည်။ မယ်တော် မာရီ ကျောင်း သစ်မှ စုလစ်မွန်းချွန်များသည် နေခြည်တွင် တဖျတ်ဖျတ် အရောင် တောက်ကာ ခေါင်းလောင်းများကလည်း သာယာ စွာ မြည်ဟည်းလျက် ရှိကြလေ သည်။ ထိုခေါင်းလောင်း သံများကို ကြားရသည့်အခါကျမှ ယနေ့သည်

တနင်္ဂနွေနေ့ ဖြစ်ကြောင်း၊ မယ်တော်မာရီ၏ ပွဲတော်နေ့ဖြစ်ကြောင်း ပီယာ သတိပြုမိတော့သည်။ သို့ရာတွင် မယ်တော်မာရီပွဲ၏ ပွဲတော်နေ့ကို ကျင်းပရန် မြို့ထဲ၌ မည်သူမျှ ရှိဟန်မတူချေ။ ကြည်လေရာရာတွင် မီးလောင်ကျွမ်းထားသော အပျက် အစီးများကိုသာ မြင်ရသည်။ မြင်တွေ့ရသော ရုရှားဟူ သမျှသည် စုတ်ပြတ်ကာ ထိတ်လန့် ကြောက်ရွံ့ နေကြ သည်။ ပြင်သစ်စစ်သားကို မြင်သည်နှင့် အပြေးအလွှား ပုန်းအောင်းကြသည်။

ရုရှားအသိုက်အမြုံကြီးသည် ပျက်စီးယိုယွင်းခဲ့ လေပြီ။ သို့ရာတွင် ထိုပျက်စီး ယိုယွင်းသွားသော အသိုက် အမြုံကြီးပေါ်၌ ပျက်စီးသွားသော ရုရှားလူမှု အဆောက် အအုံအစား လုံး၀ ခြားနား၍ ခိုင်မာသော ပြင်သစ်လူမှု အဆောက်အအုံ တည်ဆောက်ပြီးလေပြီဟု ပီယာ အလိုလို ခံစားမိသည်။ ညီညာစွာ တန်းစီလျက် သွက်လက် ရွှင်မြူး စွာ ချီတက်ရင်း မိမိနှင့်တကွ အခြား အကျဉ်းသားကို စောင့်ကြည့်လိုက်ပါလာကြသော ပြင်သစ်သားများ၏ ဟန် အမူအရာကို ကြည့်လျှင်သော် လည်းကောင်း လမ်းတွင် မိမိတွေ့လိုက်ရသော စစ်သားတစ်ဦး မောင်းနှင်သွားသည့် မြင်းနှစ်ကောင်က ရထားကြီးကို စီးနင်း လိုက်ပါလာသူ အရေးကြီးသော ပြင်သစ်စစ်ဗိုလ်ကြီးတစ်ဦး၏ ဟန်အမူ အရာကို ကြည့်လျှင်သော် လည်းကောင်း ဤအချက်ကို သိနိုင်သည်။ ထိုမျှမက ကွင်း၏လက်ဝဲဘက်မှ ပေါ်ထွက်  လာသည့် တပ်ရင်းစစ်တီးဝိုင်း၏ မြူးကြွသည့် ဂီတသံကို နားထောင်လျှင်သော် လည်းကောင်း၊ အထူးသဖြင့် နံနက် က ပြစ် သစ်တပ်ဗိုလ်လာရောက် ဖတ်ပြသွားသော ရုရှား အကျဉ်းသားများ၏ အမည် စာရင်းကို နားထောင်လျှင် သော် လည်းကောင်း ဤအချက်ကို သိနိုင်သည်။ ပီယာကို ခေါ်ထုတ်လာသည့် တပ်စုမှာ တစ်စုဖြစ်၍ မိမိအား တစ် နေရာမှ တစ်နေရာသို့ ပြောင်းရွှေ့လာသည့် တပ်စုမှာ အခြားတပ်စုတစ်စု ဖြစ်လေရာ ၎င်းတို့သည် မိမိအား မှတ်မိကြဟန်မတူတော့။ အခြားသူများနှင့် ရောထွေးကာ မည်သူ မည်ဝါဟု

ခွဲခြားသိကြဟန်မတူတော့ဟု ပီယာ ထင်မိသည်။ သို့ရာတွင် စင်စစ်၌ ဤသို့ မဟုတ်ချေ။ မိမိအား ပထမဆုံးအကြိမ် မေးမြန်းစစ်ဆေးစဉ်က မိမိ၏ အမည်ကို အမည်မဖော်လိုသူဟု ပေးခဲ့လေရာ (ပီယာသည် ထိုသို့ ဖြေခဲ့ခြင်းကို မှားသည်ဟု ထင်နေလေပြီ။) ယခု ၎င်းတို့သည် မိမိအား "ထိုအမည်" ဖြင့်ပင် တစ်နေရာသို့ ခေါ် ထုတ်လာခဲ့ကြပြီ မဟုတ်လော။ မိမိနှင့်တကွ ၎င်းတို့ ခေါ်ထုတ်လာသူ အားလုံး သည် ၎င်းတို့အလို ရှိသူများပင် မုချဆတ်ဆတ်ဖြစ်သည်ဟု စိတ်ချလက်ချ ယုံကြည်သော မျက်နှာထားများကို ဆောင်ထားကြသည် မဟုတ်လော။ ဤသူများ အား ၎င်းတို့နှင့် ထိုက်တန်သော နေရာသို့ ခေါ်ဆောင်နေခြင်း ဖြစ်သည်ဟု စိတ်ချ လက်ချ ယုံကြည် သော မျက်နှာထားများကို ဆောင်ထားကြသည် မဟုတ် လော။ ထိုသို့ တွေးမိသောအခါ၌ မိမိသည် မိမိနားလည် နိုင်ခြင်းမရှိသော်လည်း မှန်မှန် ကြီး အလုပ်လုပ်လျက် ရှိ သည့် စက်ယန္တရားကြီးတစ်ခု၏ ဘီးများထဲသို့ ကျရောက် သွားရသော ပီဘိသေးသေး သစ်သားစကလေးတစ်ခုမျှသာ တကားဟု ပီယာတွေး မိလေသည်။

ပီယာနှင့် ဘ၀တူ အကျဉ်းသားများအား ဗာဂျင် ကွင်းပြင်ကြီး၏ လက်ယာဘက်ရှိ အိမ်ဖြူကြီးတစ်လုံးဆီ ( သို့ ခေါ်ဆောင်သွားကြလေသည်။ ထို အိမ်ကြီးမှာ မယ်တော် မာရီသီလရှင်ကျောင်းသစ်အနီး၌ ရှိ၍ အိမ်ရှေ့တွင် ကြီးမား သော ပန်းဥယျာဉ်ကြီးတစ်ခု ရှိသည်။ ထိုအိမ်ကြီးကား အခြားမဟုတ်။ ယခင်က ပီ ယာ မကြာခဏ သွားရောက် လည်ပတ်ခဲ့ဖူးသော မင်းသားကြီး ရှာဗေးတော့၏ စံ အိမ် ကြီးဖြစ်၍ (ပြင်သစ်စစ်သားများ၏ စကားများအရ) ယခု အချိန်တွင် အက်က မူး နယ်စားကြီးဟု အမည်တွင်ရှိသော စစ်သူကြီး ဒါဗောက်ရုံးစိုက်ထားသည့် အိမ် ကြီး ဖြစ်ပေ သတည်း။

စံအိမ်ဝင်းဝသို့ ရောက်လျှင် ၎င်းတို့ကို စံအိမ်ထဲသို့ တစ်ယောက်ပြီးတစ်ယောက် ခေါ်ဆောင်သွားကြ၏။ ပီယာ မှာ ဆင္ဍမမြောက် ဖြစ်ပေသည်။ မိမိမြင်ဖူး၊ တွေ့ဖူးနေသည့် မှန်နန်းဆောင်ကြီးတစ်ဆောင်၊ ညှော့ခန်းဆောင်တစ်ဆောင် နှင့် ကျယ်ဝန်းသောခန်းမဆောင်ကြီးတစ်ဆောင်တို့ကို ဖြတ်သန်းခေါ်ဆောင်သွားပြီး နောက်စာကြည့်ဆောင်တစ် ဆောင်ရှေ့ထဲသို့ သွင်းလိုက်၏။ တပ်ရေးဗိုလ်တစ်ယောက် သည် တံခါးဝတွင် ရပ်လျက် ရှိလေသည်။

ပြင်သစ် စစ်သူကြီး ဒါဗောက်သည် အခန်း တစ်ဖက်စွန်းရှိ စားပွဲတွင် တကုန်းကုန်းဖြင့် အလုပ်များ လျက်ရှိ၏။ ၎င်း၏မျက်မှန်သည် နှာခေါင်းပေါ်သို့ လျှောကျလျက် ရှိသည်။ ပီယာသည် ၎င်းအနီးသို့ ချဉ်းကပ်လာ ခဲ့သည်။ သို့ရာတွင် ဒါဗောက်သည် ရှေ့တွင် ဖြန့်ချထား သော စာရွက်တစ်ရွက်ကို ကြည့်နေသည်။ မော်ကြည့် ခြင်း မပြုချေ။ ထို့နောက်မှ စာရွက်ကို ကြည့်မြဲကြည့်ရင်းက ခပ်တိုးတိုး လှမ်းမေးလိုက်သည်။

"နာမည် ဘယ်သူလဲ"

ပီယာသည် တိတ်ဆိတ်လျက် ရှိ၏။ အာစေး ထည့်ထားခြင်း ခံရသူကဲ့သို့ စကားတစ်လုံးမျှ ထွက်မလာ တော့ချေ။ ပီယာအမြင်၌သော်ကား ဒါဗောက်သည် ပြင်သစ် ဗိုလ်ချုပ်တစ်ဦးမျှသာမက ရက်စက်ကြမ်းကြုတ်ခြင်းအရာ တွင်လည်း နာမည်ဆိုးဖြင့် ကျော်ကြားသူ ဖြစ်သည်။

ကျောင်းသားထံမှ အဖြေကို စောင့်ဆိုင်းလျက်ရှိသည့် ခက်ထန်သော ကျောင်းဆရာတစ်ဦးကဲ့သို့ ထိုင်လျက်ရှိ သော ဒါဗောက်၏ အေးစက်သုန်မှုန်သော မျက်နှာထားကို ကြည့်ရင်း စက္ကန့်တိုင်းသည် မိမိအတွက် အရေးကြီးကြောင်း ကို ပီယာ သဘောပေါက်၏။ အဖြေပေးရန် နှောင့်နှေး လျက်ရှိသော တဒင်္ဂဟန် အချိန်ပိုင်းကလေးတိုင်းသည် မိမိ၏ အသက်တစ်ချောင်း ဆုံးရှုံးစေနိုင်ကြောင်းကို

ပီယာ နားလည်၏။ သို့ရာတွင် မည်သို့ဖြေရမှန်းကို ပီယာ မသိ ချေ။ မိမိအား ပထမဆုံးအကြိမ် မေးမြန်းစစ်ဆေးစဉ်ကကဲ့ သို့လည်း အဖြေမပေးရဲ။ မိမိ၏ အဆင့်အတန်းအမှန်ကို ဖွင့်ပြောရမည်ကိုလည်း ခပ်တွန့်တွန့်ဖြစ်နေသည်။ ထိုမျှ မက အမှန်ကို ပြောရခြင်းသည် အန္တရာယ် များလှသည်ဟု ထင်မိ၏။ ထို့ကြောင့် ပီယာသည် တိတ် ဆိတ်နေခြင်း ဖြစ်လေသည်။ သို့ရာတွင် ပီယာသည် မည်သို့ ဖြေရမည်ဟု ဆုံးဖြတ်ရခြင်းမပြုမီ ဒါဗောက်သည် ခေါင်းကို မော့၍ မျက်မှန်ကို နဖူးပေါ်သို့ မတင်လိုက်ပြီးနောက် မျက်လုံးများ ကို ပီယာကို တိတ်ဆိတ်စွာ စူးစိုက်ကြည့်လျက် ရှိလေသည်။

"ဒီလူ ဘယ်သူလဲဆိုတာ ကျုပ်သိတယ်" ပီယာ ကို ခြောက်လှန့်လိုဟန်ဖြင့် ဒါဗောက်က အေးစက်၍ တမင်လုပ်ယူရသောအသံဖြင့် ပြောလိုက်သည်။

ပီယာ၏ ကျောပြင်တစ်လျှောက် တဖြန်းဖြန်း ရက် လာသော ကြက်သီးမွေးညင်းများသည် ပီယာ၏ ခေါင်း ဆီသို့ ရောက်လာသည်ဟု ထင်မှတ်လိုက်ရ၏။

"ကျွန်တော့်ကို ဗိုလ်ချုပ် မသိနိုင်ပါဘူး ခင်ဗျာ။ ကျွန်တော်ဟာ ဗိုလ်ချုပ်ကို တစ်ခါမှ မမြင်ဖူးခဲ့သေးပါဘူး" .

"ဒီလူ ရုရှားသူလျှို" ဒါဗောက်က စကားဆုံး အောင် နားမထောင်ဘဲ ကြားဖြတ်၍ အနီးတွင်ရှိသည့် ဗိုလ်ချုပ်တစ်ယောက်ကို လှမ်းပြောလိုက်သည်။ ထိုအခါကျမှပင် အနီးတွင် အခြားဗိုလ်ချုပ်တစ်ယောက် ရှိနေခြင်း ကို ပီယာ သတိပြုမိတော့သည်။

ဒါဗောက်က မျက်နှာကို တစ်ဖက်သို့ လှည့်လိုက် ၏။ ပီယာက အသံတုန်တုန်ဖြင့် ခပ်မြန်မြန်ပြောနေသည်။

"မဟုတ်ပါဘူး နယ်စားကြီး ခင်ဗျာ" ပီယာက ဒါဗောက်သည် နယ်စားကြီး တစ်ဦး ဖြစ်ကြောင်း ချက်ချင်း သတိရလာ၏။

"နယ်စားကြီး ကျွန်တော့်ကို မသိနိုင်ပါဘူး ခင်ဗျာ။ ကျွန်တော်ဟာ အရေးပေါ် စစ်သည်တပ်စုဖွဲ့ ဗိုလ်တစ်ဦးပါ။ မော်စကိုမှာ ကျန်နေရစ်ခဲ့တာပါ"

"နာမည်" ဒါဗောက်က မေး၏။ "ပီယာ ဘီဇူးကော့ဗ်ပါ"

"ခင်ဗျား အမှန်အတိုင်း ပြောနေတယ်လို့ ကျုပ် က ဘယ်လို ယုံရမှာလဲ"

"နယ်စားကြီး ခင်ဗျာ" ပီယာအသံမှာ တောင်းပန် တိုးလျှိုးသံပေါက်လာခဲ့လေပြီ။

ဒါဗောက်သည် ခေါင်းမော့ကာ ပီယာကို စိမ်းစိမ်း ကြီး စိုက်ကြည့်လိုက်ပြန်သည်။ ၎င်းတို့နှစ်ယောက်သည် တစ်ယောက်ကိုတစ်ယောက် စက္ကန့်အတန်ကြာမျှ စိုက် ကြည့်နေမိကြသည်။ ထိုအကြည့်သည် ပီယာ၏ အသက်သည်။

ကို ကယ်လိုက်လေသည်။ ထိုအကြည့်သည် စစ်ပွဲ၏ စည်းကမ်းချက်များနှင့် တရားဥပဒေတို့ကို ဘေးဖယ်ကာ လူနှစ်ဦး၏အကြား၌ လူလူချင်း ဆက်ဆံရေးကို ပေါ်ပေါက် လာစေ၏။ ထိုခဏ၌ အရာကိစ္စများစွာတို့သည် ထိုလူ နှစ်ဦး၏ စိတ်ထဲတွင် မှုန်တိမှုန်ဝါး ပေါ်ပေါက်လာကြ ၏။ မိမိတို့နှစ်ဦးသည် လူ့အနွယ်ကြီး၏ သားသမီးများ၊ ညီရင်းနောင်မယ်များသာ ဖြစ်ကြသည်ဟူသော အချက်ကို နှစ်ဦးစလုံး သဘောပေါက်လာခဲ့ကြလေသည်။

လူမှုကိစ္စများ၊ လူ၏ အသက်များကို ကိန်းဂဏန်း ဖြင့် ဖော်ပြထားရာ စာရွက်ပေါ်မှ ဒါဗောက်က ခေါင်းကို မော့၍ ပီယာအား ပထမဆုံးကြည့်လိုက်စဉ်က ပီယာသည် အရာဝတ္ထုတစ်ခုမျှသာ ဖြစ်ခဲ့၏။ ထိုအချိန်က ဒါဗောက် သည်

မိမိ၏ ဒုစရိုက်အတွက် စိုးစဉ်းမျှ နှောင့်နှေးဗျာပါ ဖြစ်ခြင်း နောင်တသံဝေဂ ဖြစ်ခြင်းတို့ မရှိဘဲ စိတ်အနှောင့် အယှက်ကင်းကင်းဖြင့် ပီယာကို ပစ်သတ်မည်ဆိုက အလွယ် တကူ ပစ်သတ်နိုင်ခဲ့မည်သာ ဖြစ်၏။ သို့ရာတွင် ယခုမူ ပီယာသည် အရာဝတ္ထုတစ်ခုမဟုတ်ဘဲ မိမိကဲ့သို့ သွေး သားနှင့် ဖွဲ့စည်းထားသော လူသားတစ်ယောက်ဖြစ်ခြင်း ကို ဒါဗောက်သိမြင်ခဲ့လေပြီ။ ဒါဗောက်သည် အတန်ကြာ မျှ စဉ်းစားလျက် ရှိ၏။

"ခင်ဗျားပြောသမျှ မှန်ပါတယ်လို့ ကျုပ်က ဘယ် လိုလုပ်ပြီး ယုံရမှာလဲ။ ဘာ အထောက်အထား ရှိလို့လဲ" ဒါဗောက်က အေးစက်သည့်လေသံဖြင့် မေး၏။

ပီယာသည် ပြင်သစ်တပ်ဗိုလ် ရမ်ဘေးကို ချက် ချင်း သတိရလိုက်သည်။ ထို့ကြောင့် ရမ်ဘေး၏အမည်၊ တပ်ရင်းအမှတ်နှင့် ရမ်ဘေးနေထိုင်လျက် ရှိသည့် လမ်း အမည်တို့ကို ပြောပြလိုက်သည်။

"ခင်ဗျား လိမ်တယ်" ဒါဗောက်က ပြန်ပြောသည်။

ပီယာသည် တုန်ယင်ဆုတ်ဆိုင်းလျက်ရှိသော အသံ ဖြင့် ၎င်း၏ပြောဆိုချက်များ မှန်ကြောင်းကို သက်သေထူ လျက်ရှိသည်။ . ထိုအခိုက်တွင် တပ်ရေးဗိုလ် တစ်ယောက် ဝင်လာ ကာ ဒါဗောက်ထံ တစ်စုံတစ်ရာကို အစီရင်ခံလျက် ရှိ သည်။

တပ်ရေးဗိုလ်၏ သတင်းပို့ချက်ကို ကြားလိုက်သည် ၌ ဒါဗောက်၏ မျက်နှာသည် ဝင်းထိန်လာ၏။ ၎င်းနောက်  ဒါဗောက်သည် စစ်ဝတ်စုံကြယ်သီးများကို တပ်လျက် ရှိ သည်။ ဒါဗောက်သည် ပီယာကို မေ့သွားဟန် တူလေပြီ။

တပ်ရေးဗိုလ်က အကျဉ်းသားရှိသေးကြောင်းကို သတိပေးလိုက်သည့်အခါကျမှ ဒါဗောက်သည် မျက်မှောင် ကြီးကုတ်ကာ ပီယာကို တစ်ချက်မျှ စောင်းကြည့်လိုက် ပြီး ခေါ်ထုတ်သွားရန် အမိန့်ပေးလိုက်သည်။ သို့ရာတွင် ၊ မည်သည့်နေရာသို့

ခေါ်ထုတ်သွားမည်ကိုကား ပီယာ မသိ ချေ။ ရထားထဲသို့ ပြန်ခေါ်မည်လော၊ သို့တည်းမဟုတ် ဗာဂျင်ကွင်းပြင်ကြီးကို ဖြတ်လာခဲ့စဉ်က ဘ၀တူ အကျဉ်း သားများ ညွှန်ပြခဲ့သော လူသတ်ကုန်းသို့လော။ ဤသည် ကို ပီယာ မသိချေ။

ပီယာက တစ်ဖက်သို့ လှည့်ကြည့်လိုက်ရာတွင် တပ်ရေးဗိုလ်က ဒါဗောက်အား တစ်စုံတစ်ရာ မေးမြန်း လျက် ရှိခြင်းကို မြင်ရပြန်သည်။

"အေး၊ ထုံးစံအတိုင်း လုပ်လိုက်" ဒါဗောက်က ပြန်ပြော၏။ သို့ရာတွင် ထို "ထုံးစံအတိုင်း လုပ်လိုက်" ဆိုသော စကားသည် မည်သည့်အဓိပ္ပာယ်ဆောင်ကြောင်း ကိုးကား ပီတာ မသိချေ။

ထိုနောက်၌ကား မိမိ မည်သို့မည်ပုံ လမ်းသွားနေ သည်ကို လည်းကောင်း၊ မည်မျှဝေးသည်ကို လည်းကောင်း၊ မည်သည့်နေရာသို့ သွားနေသည်ကို လည်းကောင်း ပီယာ မမှတ်မိတော့ချေ။ ပီယာ၏အာရုံခံစားနိုင်စွမ်း ဟူသမျှတို့သည် ထုံထိုင်းလျက် ရှိလေပြီး၊ ပီယာသည် သညာကင်း လျက် ရှိလေပြီ။ မိမိ ပတ်ဝန်းကျင်ရှိ မည်သည့်အရာကိုမျှ သတိပြုမိခြင်း မရှိတော့ဘဲ သူများ ခြေထောက် လှုပ်လျှင် လှုပ်၍ သူများ ရပ်လျှင် ရပ်လိုက်တော့သည်။ ထိုအချိန်တွင် ၎င်း၏စိတ်ထဲတွင် ရှိသည့် တစ်ခုတည်းသော အတွေး ကား မိမိကို သေဒဏ်ပေးလိုက်သူသည် မည်သူနည်း ဆို သည့်အတွေးသာ ဖြစ်တော့သည်။ မိမိအား ပထမအကြိမ် မေးမြန်းစစ်ဆေးခဲ့သူများလော။ ၎င်းတို့ကား မဟုတ်တန် ရာ။ ၎င်းတို့သည် မိမိအား သေဒဏ်ပေးလိုစိတ်လည်း ရှိဟန်မတူ။ ပေးနိုင်သော အာဏာလည်း ရှိပုံမရ။ မိမိအား လူလူချင်း စာနာစိတ်မျိုးဖြင့် ကြည့်လိုက်သော ဒါဗောက်လည်း မဟုတ်တန်ရာ။ ဒါဗောက်သည် မိမိပြုမိသောအမှား ကြီးအတွက် နောင်တသံဝေဂဖြစ်အံ့ဆဲဆဲ မဟုတ်လော။ ( သို့ရာတွင် ထိုအချိန်ကလေးတွင် တပ်ရေးဗိုလ်ဝင်ရောက်  လာသဖြင့် ဒါဗောက်မှာ နောင်တသံဝေဂဖြစ်ရန် အချိန်မရ လိုက်

ပြန်ချေ။ သို့ဖြစ်လျှင် တပ်ရေးဗိုလ်လော။ ၎င်းလည်း မဟုတ်တန်ရာ။ တပ်ရေးဗိုလ် ဝင်လာခဲ့သည် ထားဦး။ ၎င်း၌ မိမိကိုမှ ရွေး၍ သေစေလိုသော ဆန္ဒရှိဟန် မတူ။ သို့ဖြစ်လျှင် မိမိ (ပီယာဆို သောလူတစ်ယောက်) ကို မည် သူသတ်သနည်း။ မည်သူ သေဒဏ်ပေးသနည်း။ စိတ်ကူး များ၊ မျှော်မှန်းချက်များ၊ မျှော်လင့်ချက် များ၊ အတွေးများနှင့် ဖွဲ့စည်းထားသော မိမိကို အသက်ဇီဝိန်နှင့် ကင်းအောင် မည်သူလုပ်သနည်း။ မည်သူလက်ချက်နည်း။ မည်သူမျှမဟုတ်။ မည်သူမျှ ၎င်း ကို သတ်ခြင်းမဟုတ်ဟု ပီယာ တွေးမိသည်။

တရားခံမှာ စနစ်ကြီးသာ ဖြစ်တော့သည်။ အခြေ အနေများ၏ ဆုံစည်း တိုက်ဆိုင်မှုသာ ဖြစ်တော့သည်။

တစ်စုံတစ်ခုသော စနစ်ကြီးတစ်ခုသည် မိမိ (ပီယာ ဆိုသော လူတစ် ယောက်) အား အသက်ဇီဝိန်နှင့် ကင်း အောင် အရာခပ်သိမ်းနှင့် ကင်းအောင် လုပ် လျက် ရှိလေ ပြီ။ ဖျက်ဆီးချေမှုန်းလျက် ရှိလေပြီ။

# အခန်း ၁၁

အကျဉ်းသားများအား ဒါဗောက်ရုံးစိုက်ရာ မင်းသားကြီး ရှာဗေးတော့၏ စံ အိမ်မှ ဗာဂျင်ကွင်းပြင်ကြီးကို ဖြတ်လျက် သီလရှင်ကျောင်း လက်ဝဲဘက်ဆီသို့ ခေါ်ထုတ်လာခဲ့သည်။ ထိုအနီး၌ ခြံလေးတစ်ခြံရှိ၍ ထိုခြံထဲတွင် ကားစင်တစ်ခု စိုက်ထား၏။ ထိုကားစင်၏ နောက်ဘက်တွင် ကျင်းသစ် တစ်ကျင်း တူးလျက်သား ရှိပြီး ကားစင်နှင့် ကျင်းတစ်ဝိုက် တွင် လူအုပ်ကြီးတစ်အုပ်သည် စက်ဝိုင်းခြမ်း သဏ္ဍာန် ဝိုင်း အုံလျက် ရှိသည်။ လူအုပ်ထဲတွင် ရုရှားအချို့ ပါဝင်၍ အများစုမှာ ဝတ်စုံအမျိုးမျိုး ဝတ်ထားသော အားလပ်ခွင့် ရသည့် ဂျာမန်၊ အီတလီ၊ ပြင်သစ် စ သည့် နပိုလီယန်၏ တပ်သားများသာ ဖြစ်လေသည်။ ကျင်း၏ လက်ဝဲနှင့်

လက်ယာဘက်တွင်မူ ဝတ်စုံပြာတွင် ပခုံးပန်းပွားများ တပ်ထားပြီး ဖိနပ်ရှည်နှင့် ဦးထုပ်ပျော့ဆောင်းထားကြသည့် ပြင်သစ်စစ်သားများ စီတန်းရပ်လျက် ရှိကြ၏။

အကျဉ်းသားများကို စာရင်းအလိုက် တန်းစီစေ ပြီးနောက် (ပီယာမှာ ဆဌမမြောက် ဖြစ်သည်။) ကားစင် ( ဆီသို့ ခေါ်သွားကြသည်။ ထိုအခိုက် ဘေးတစ်ဖက် ( တစ်ချက်မှာ ဘင်ခရာတစ်ချက်မှာ ဘင်ခရာသံများ ရုတ် တရက် ထွက်ပေါ်လာလေသည်။ ထိုဘင်ခရာသံများသုင့် မြင်ခြင်းသာ ရှိတော့ည် မိမိ၏ ဝိညာဉ်ကို ဖဲ့ယူဝါးမျိုသွား သည်ဟု ပီယာ ထင်လိုက်မိသည်။ ယခု အချိန်၌ ပီယာ တွင် တွေးတောနိုင်သော စွမ်းအားသတ္တိ၊ သိနားလည် နိုင်သော စွမ်းအားသတ္တိတို့ မရှိတော့ပြီ။ ပီယာ၌ ကြားခြင်း နှင့် မြင်ခြင်းသာ ရှိတော့သည်။ ၎င်း၌ ဆန္ဒတစ်ခုတည်းသာ ရှိတော့သည်။ ၎င်းမှာ အခြားမဟုတ်။ မကြာမီ ဖြစ်ရတော့ မည့် ကြောက်ဖွယ် အဖြစ်အပျက်ကြီး မြန်မြန်ဖြစ်ပါစေ တော့ဟူသော ဆန္ဒပင် ဖြစ်ပါသတည်း။ ပီယာသည် မိမိ နှင့် ဘဝတူအကျဉ်းသားများကို လှည့်ကြည့်ကာ ၎င်းတို့ကို စူးစမ်းလေ့လာမိသည်။

ပထမနှစ်ယောက်မှာ ခေါင်းတုံးရိတ်ထားသော ရာဇဝတ်အကျဉ်းသားများ ဖြစ်ကြ၏။ အသားမည်းမည်း၊ ခပ်ဝဝ၊ နှာခေါင်းပြားပြားနှင့် ဖြစ်သည်။ တတိယလူမှာ အိမ်စေတစ်ယောက်ဖြစ်၍ အသက်လေးဆယ်ခန့် ရှိလေ ပြီ။ ဆံပင်ကောက်ကောက်၊ ဝလင်စွာ စားသောက်ထား ရသဖြင့် ၎င်း၏ ခန္ဓာကိုယ်သည် ဆူဖြိုးလျက် ရှိ၏။ စတုတ္ထတစ်ယောက်မှာ လယ်သမားတစ်ယောက်ဖြစ်၏။ ၎င်းမှာ မုတ်ဆိတ်မွေးတူထူ၊ မျက်လုံးနက်နက်နှင့် ခန့်ညားချောမောသူ ဖြစ်သည်။ ပဥ္စမလူမှာ မျက်နှာရှည်ရှည်၊ အသားဝါဝါနှင့် စက်ရုံအလုပ်သမားတစ်ယောက်ဖြစ်ပြီး ဝတ်ရုံပွပွကြီးကို ခြုံထားသည်။

ငင်းတို့အား တစ်ယောက်ချင်း ပစ်သတ်ရမည် လော။ နှစ်ယောက်တစ်တွဲစီ ပစ်သတ်ရမည်လောဟု ပြင်သစ်တပ်သားများ တိုင်ပင်နေသံကို ပီယာကြားရ သည်။ တာဝန်ကျတပ်ဗိုလ်က "နှစ်ယောက်တစ်တွဲစီ"ဟု အေးစက် ၊ တည်ငြိမ် သော အသံဖြင့် ပြန်ပြောလိုက်သည်။ စစ်သား တန်းများထဲတွင် လှုပ်လှုပ်ရွရွ ဖြစ် သွားကြသည်။ ထို့ နောက် ငင်းတို့သည် သုတ်သီးသုတ်ပျားဖြစ်လျက် ရှိကြ သည်။ သို့ရာတွင် ငင်းတို့ သုတ်သီးသုတ်ပျားဖြစ်ခြင်းမျိုး မဟုတ်ဘဲ မလွဲသာသော အလုပ် ကြီးတစ်ခုကို စိတ်မချမ်း ( မသာ ဘုမသိဘမသိဖြင့် အမြန်ဆုံး ပြီးသွားအောင် လုပ် နေရသူတို့၏ သုတ်သီးဖျာဖြစ်နည်းမျိုး ဖြစ်လေသည်။

လည်စည်း ပတ်ထားသည့် ပြင်သစ်တပ်ဗိုလ် တစ်ယောက်သည် တန်းစီ ထားသော အကျဉ်းသားများ၏ လက်ယာဘက်ထိပ်သို့ လျှောက်လာပြီး စီရင်ချက် ကို ပြင်သစ်ဘာသာ၊ ရုရှားဘာသာတို့ဖြင့် ဖတ်ပြ၏။

"ထို့နောက် ပြင်သစ်တပ်သား လေးယောက်တို့ သည် ရာဇဝတ်အကျဉ်းသား များအနီးသို့ ချဉ်းကပ်လာကာ တပ်ဗိုလ်က အမိန့်ပေးလိုက်သည်၌ ရှေ့ဆုံးတန်း တွင် ရပ်နေသော ရာဇဝတ်အကျဉ်းသားနှစ်ဦးကို ခေါ်ထုတ်သွား ကြသည်။ ကားစင်အနီးသို့ ရောက်လျှင် ရပ်လိုက်ကြ၏။ ခေါင်းစွပ်များကို သွားယူလျက်ရှိစဉ် အကျဉ်းသားနှစ်ဦး သည် ဘေးပတ်ဝန်းကျင်ကို ကြောက်ရွံ့ထိတ်လန့်စွာဖြင့် ကြည့်လျက်ရှိရာ ငင်းတို့၏ အကြည့်မှာ မိမိအနီးသို့ ချဉ်းကပ်လာသော တောလိုက် မုဆိုးကို ကြည့်လျက်ရှိသော ဒဏ်ရာရထားသည့် သားကောင်တစ်ကောင်၏ အကြည့် နှင့်ပင် တူတော့သည်။ အကျဉ်းသားတစ်ယောက်က လက် ယှက် ဆုတောင်းလျက်ရှိပြီး တစ်ယောက်မှာ ကျောကို လှမ်းကုတ်ရာက ပြုံးမလိုလိုဟန် ဖြင့် နှုတ်ခမ်းများကို တရွရွလှုပ်လျက် ရှိ၏။ စစ်သားများသည် ငင်းတို့နှစ်ဦး၏ မျက်နှာများကို ခပ်မြန်မြန်စည်းပေးလိုက်ကြပြီး ခေါင်းစွပ် အိတ်များ စွပ်ပေးလိုက် ကာ ကားစင်တွင် ချည်လိုက်ကြ သည်။

ကျည်တစ်လုံးထိုး သေနတ်များ ကိုင်ထားကြသည့် စစ်သားတစ်ဆယ့်နှစ်ယောက်သည် ခြေလှမ်းမှန်မှန် မြဲမြဲ လှမ်းကာ စစ်သားတန်းထဲမှ ထွက်လာခဲ့ကြပြီး ကားစင် နှင့် ရှစ်လှမ်းအကွာတွင် ရပ်လိုက်ကြသည်။ ပီယာသည် မကြည့်လိုတော့ည့်အတွက် မျက်နှာကို လွှဲလိုက်သည်။ ထိုစဉ် အဆက်မပြတ်ထွက်ပေါ်လာသော သေနတ်သံများ ကို ကြားလိုက်ရ၏။ ပီဃာ့အဖို့သော် ထိုအသံများသည် မိုးကြိုးထစ်ချန်းသံထက်ပင် ကျယ်လောင်သေးသည်ဟု ထင်မိ၏။ ပီယာသည် လှည့်၍ ကြည့်လိုက်၏။ ပတ်ဝန်း ကျင်တွင် မီးခိုးတွေအူလျက် ရှိ၏။ ဖြူ ရော်သော မျက်နှာ၊ တုန်ယင်သော လက်များဖြင့် ပြင်သစ်သားများသည် ကျင်းအနီးတွင် ဝိုင်းအုံကာ တစ်စုံတစ်ရာကို ပြုလုပ်လျက် ရှိကြသည်။ နောက်ထပ် အကျဉ်းသား နှစ်ယောက်မှာလည်း ယခင်နှစ်ယောက်ကဲ့သို့ပင် ပရိသတ်ကို ကျီးကြည့် ကြောင်ကြည့် ကြည့်လျက် ရှိကြသည်။ မိမိတို့အား မကယ်နိုင် တော့ပြီလောဟူသော တောင်းပန်တိုးလျှိုးသည့် အမူအရာ သည် ၎င်းတို့မျက်လုံးတွင် ပေါ်လျက်ရှိလေသည်။ ၎င်းတို့ သည် မိမိတို့၏အဖြစ်ကို နားမလည်နိုင်အောင် မယုံကြည် နိုင်အောင် ဖြစ်လျက်ရှိခြင်းမှာ ကိုယ့်ဘဝ၏ အဓိပ္ပာယ်ကို ကိုယ်သာ သိသောကြောင့်လည်း ဖြစ်ပါသည်။ ထို့ကြောင့် မိမိတို့၏ အသက်ဇီဝိန် ကြွေရတော့မည် ဆိုခြင်းကို မယုံ နိုင်အောင် နားမမလည်နိုင်အောင် ဖြစ်လျက်ရှိခြင်း ဖြစ်ပါ ဤအကြိမ်၌လည်း ပီယာသည် မကြည့်လိုသည့် အတွက် မျက်နှာကို လွှဲထားလိုက်ပြန်သည်။ သို့ရာတွင် မကြား၍ကား မရချေ။ ကြောက်ဖွယ်ပေါက်ကွဲသံများသည် ၎င်း၏ သောတအာရုံထဲကို လာ၍ ရိုတ်ခတ်ကြပြန်သည်။ တစ်ပြိုင်နက်တည်း လောက်မှာပင် မီးခိုးများ၊ သွေးများ၊ ကားစင်တွင် ကတုန်ကယင်ဖြင့် တစ်စုံတစ်ရာ ပြုလုပ် လျက် ရှိသည့် ပြင်သစ်စစ်သားများ၏ ထိတ်လန့်ချောက် ချား၍ ဖြူရော်လျက်ရှိသောမျက်နှာများကို မြင်ရပြန်သည်။ ပီယာသည် အသက်ကို ပြင်းစွာ ရှူလျက် ဤကား မည် သည့်အဓိပ္ပာယ်နည်းဟု မေးသည့်နှယ် ပတ်ဝန်းကျင်ကို

လှည့်ကြည့်မိပြန်သည်။ ၎င်းနှင့် မျက်လုံးချင်းဆုံမိသူ၏ မျက်လုံးများတွင်လည်း ထိုမေးခွန်းသည် အထင်းသားပေါ် လျက် ရှိလေသည်။

ရုရှားအရပ်သားများ၏ မျက်နှာပေါ်၌ လည်း ကောင်း၊ တပ်မိုလ်များ အပါဝင် ပြင်သစ်စစ်သားများ၏ မျက်နှာများပေါ်၌ လည်းကောင်း မိမိရင်ထဲတွင် ခံစားရသော စိတ်ပျက်ခြင်းမျိုး၊ ထိတ်လန့်ခြင်းမျိုးနှင့် ဝေခွဲမရ ဖြစ်ခြင်းမျိုးကို ပီယာ တွေ့ရ၏။ "နေစမ်းပါဦး။ ဒီအလုပ် ကို ဘယ်သူတွေက လုပ်နေတာလဲ။ သူတို့လဲ ငါ့လို ချောက်ချားတုန်လှုပ်နေကြတာပဲ မဟုတ်ဘူးလား။ ဒါဖြင့် ဘယ်သူက သတ်နေတာလဲ။ ဘယ်သူ လုပ်နေတာလဲ"ဟူ သော အတွေးသည် ပီယာ၏ ခေါင်းထဲသို့ လက်ခနဲ ဝင်ရောက်လာပြန်သည်။

"တပ်ရင်း-၈ဖ လက်ဖြောင့်တပ်သား ရှေ့တက်" ဟု အော်လိုက်သံကို ကြားရ၏။ ပီယာနှင့် ကပ်လျက်ရှိ သော ပဉ္စမမြောက်အကျဉ်းသားကို တစ်ယောက်တည်း ခေါ်ထုတ်သွားကြ၏။ မိမိအား ပစ်သတ်မည်မဟုတ် ကြောင်းကို ပီယာ မသိသေးချေ။ မိမိတို့တစ်သိုက်အား လူသတ်ပွဲသို့ လာရောက်ကြည့်ရန်အတွက် ခေါ်လာခြင်း  သာ ဖြစ်ကြောင်းကိုလည်း ပီယာ မသိသေးချေ။ ပီယာကားဣဆည်၍ မရလောက်အောင် ချောက်ချားလျက် ရှိ လေပြီ။ ပီယာသည် မျက်လုံးကြီး အပြူးသားဖြင်း ၊ ကြည့်နေမိသည်။ ပဉ္စမအကျဉ်းသားမှာ ဝတ်ရုံအင်္ကျီပွကြီးကို ခြုံထားသည့် စက်ရုံအလုပ်သမား လူငယ်တစ်ဦး ဖြစ်သည်။ စစ်သားများက လာခေါ်သည်နှင့် တစ်ပြိုင်နက် ထိုလူငယ်သည် ကြောက်လန့်တကြားဖြင့် ပီယာကို လှမ်း ဆွဲကာ အတင်းဖက်ထားသည်။ (ပီယာသည် တစ်ကိုယ် လုံး ကြက်သီးတွေ တဖြန်းဖြန်း ထလာကာ အတင်းရုန်း ထွက်နေသည်။) လူငယ်မှာ လမ်းပင် မလျှောက်နိုင်တော့ ပြီ။ စစ်သားများက ချိုင်းအောက်မှ လျှို၍ တရွတ်တိုက် ဆွဲခေါ်သွားသောအခါ၌ ထိုလူငယ်သည် ငယ်သံပါအောင် အော်ဟစ်လျက် ရှိ၏။ ကားစင်သို့ ရောက်သောအခါတွင် လူရွယ်သည် တစ်စုံတစ်ရာကို ရုတ်တရက်

သဘောပေါက် သွားသကဲ့သို့ ငြိမ်သက်သွားလေသည်။ ဤသို့ အော်ဟစ် နေ၍ ဘာမျှ အကျိုးမထူးဟု သိသွားသောကြောင့်လော။ သို့တည်းမဟုတ် ဤလူ များသည် မိမိအား တကယ်သတ် လိမ့်မည်ဟု မထင်သောကြောင့်လော။ မည် သည့်အတွက် ကြောင့်ဟူ၍ကား မသိ။ လူရွယ်သည် ကားစင်တွင် ဣရရရပ်လျက် မျက်နှာကို အဝတ်စည်းခံရန် စောင့် ဆိုင်းလျက်ရှိရာ ဒဏ်ရာရသော တိရစ္ဆာန်တစ် ကောင်ကို သို့ ပတ်ဝန်းကျင်ကို စူးရှ တောက်ပြောင်သော မျက်လုံး များဖြင့် ကြည့် လျက် ရှိလေသည်။

ပီယာမှာ မျက်နှာလွှဲရန်ပင် အားမရှိတော့ပြီ။ ထို့ ကြောင့် မျက်လုံးများကို မှိတ်ထားလိုက်လေသည်။ ပဉ္စမ မြောက် လူသတ်ပွဲသို့ ရောက်လာချိန်၌ ပီယာ၏ ထိတ်လန့် ချောက်ကျားခြင်း၊ စူးစမ်းလိုခြင်းတို့သည် အမြင့်ဆုံးသော အထွတ်အထိပ်သို့ ရောက်ခဲ့လေပြီ။ ကားစင်ပေါ်၌ကား ပဉ္စမအကျဉ်းသားသည် အခြားသူများကဲ့သို့ တည်ငြိမ်လျက် ရှိလေပြီ။ ၎င်းသည် ဝတ်ရုံအကျီပွကြီးကို ခပ် တင်းတင်း ဆွဲခြုံကာ ခြေထောက်ချင်း ပွတ်လျက် ရှိလေသည်။

၎င်းတို့က မျက်နှာကို အဝတ်စည်းပေးသောအခါ ၌ ထိုလူရွယ်သည် နောက်စေ့တွင် ခုနေသောအထုံးကို နေရာရွှေ့၍ပင် နေလိုက်သေး၏။ သွေးများ စွန်းပေလျက် ရှိသည့် တိုင်ကို ကပ်၍ ချည်နှောင်ခြင်း ပြုသည့်အခါ၌ ၎င်းသည် ကျောကို မှီ၍ ကပ်ပေးလိုက်၏။ တစ်ဖန် ထိုသို့ နေရခြင်းကို သက်သောင့်သက်သာ မရှိသည့်နှယ် ကိုယ်ကို မတ်၍ ခြေထောက်ကို ရွှေ့ပြီးမှ တိုင်ကို အသာ အယာ ပြန်မှီလိုက်သည်။ ပီယာသည် ထိုလူရွယ်ကို စူးစိုက်ကြည့် ကာ ၎င်း၏ လှုပ်ရှားဟန်ကို မျက်တောင် မခတ် ကြည့်နေမိသည်။

အမိန့်ပေးသံနှင့် သေနတ်သံများ ပေါ်ထွက်လာ ကောင်းလာမည် ဖြစ် သော်လည်း ပြန်၍ စဉ်းစားလိုက်သော အခါ၌ ထိုအသံများကို ကြားလိုက်ရသည်

ဟု ပီယာမမှတ်မိ တော့ချေ။ တုပ်နှောင်သော ကြိုးများထဲတွင် အလုပ်သမား လူရွယ်ပျော့ခွေကျသွားပုံ၊ ၎င်း၏ ကိုယ်ခန္ဓာနှစ်နေရာ၌ သွေးတွေ စွန်းပေနေပုံ၊ ပျော့ခွေသွားသော လူရွယ်၏ ခန္ဓာကိုယ်အလေးချိန်ကြောင့် ကြိုးများ လျော့ကျသွားပုံ၊ ခန္ဓာကိုယ်ကြီးအောက်သို့ လျော့သွားဖုံး ခြေတစ်ဖက်ကွေး ကာ ခေါင်းငိုက်စိုက်ကျသွားပုံတို့ကိုသာ ပီယာ မြင်လိုက် ရတော့သည်။ ပီယာသည် စင်ဆီသို့ ပြေးလာခဲ့၏။ မည်သူမျှ ၎င်းကို တားဆီးခြင်းမပြုကြချေ။ ထိတ်လန့် တုန်လှုပ်၍ မျက်နှာဖြူရော်လျက်ရှိသူ တစ်စုသည် အလုပ် သမားလူ-အနီးတွင် တစ်စုံတစ်ရာကို ပြုလုပ်လျက် ရှိကြ၏။ လူရွယ်ကို ကြိုးဖြေလျက်ရှိသော မုတ်ဆိတ်ထူ ထူနှင့် ပြင်သစ်စစ်သားအိုကြီး၏ မေးသည် တဆတ်ဆတ် တုန်လျက် ရှိသည်။ ကြိုးဖြေလိုက်သည်နှင့် ခန္ဓာကိုယ် ကြီးသည် ဗိုင်းခနဲလဲကျသွား၏။ စစ်သားများသည် အလောင်းကောင်ကြီးကို တရွတ်တိုက် ဆွဲသွားကြကာ ကျင်းထဲသို့ ပစ်ချလိုက်ကြလေသည်။

၎င်းတို့အားလုံးသည် မိမိတို့ ပြစ်မှုများကို သဲလွန်စ မကျန်အောင် မြန်နိုင်သမျှ အမြန်ဆုံး ဖုံးကွယ်ဖျောက်ဖျက် နေကြသည့် ရာဇဝတ်ကောင်များ ဖြစ်ကြောင်း စစ်သား များ ကိုယ်တိုင်ကလည်း နားလည်ကြဟန်တူပေသည်။

ပီယာသည် ကျင်းထဲသို့ ငုံ့ကြည့်လိုက်၏။ အလုပ် သမား လူရွယ်သည် ကျင်းထဲတွင် ခွေခွေကလေး လဲလျက် ရှိ၏။ ပခုံးနှစ်ဖက်သည် မှန်မှန် နိမ့်ချည် မြင့်ချည်ဖြစ် လျက် အသက်ထွက်ခါနီး နောက်ဆုံးရုန်းကန်ခြင်းအနေ ဖြင့် လှုပ်ရှားလျက် ရှိသည်။ သို့ရာတွင် အပေါ်မှ မြေစာ များကို တူးရွင်းဖြင့် ဖို့ချနေသူက ဖို့လျက် ရှိလေပြီ။ အလွန်အမင်း စိတ်ထိခိုက်လျက်ရှိပုံရသည့် စစ်သားတစ်ဦး သည် ပီယာကို အသံဆိုးကြီးဖြင့် အော်ငေါက်မောင်း  ထုတ်လျက် ရှိသည်။ သို့ရာတွင် ပီယာသည် မိမိကို အော်ငေါက်နေမှန်း သိခြင်းမရှိဘဲ ကားစင်အနီးတွင် ရပ် မြဲ ရပ်နေသည်။ နောက်ထပ် မည်သူကမျှ မောင်းထုတ် ခြင်း မပြုတော့ချေ။

ကျင်းကို ပို့ပြီးသော် အမိန့်သံတစ်သံပေါ်ထွလက် လာ၏။ ပီယာကိုလည်း မူလနေရာသို့ ပြန်ခေါ်သွားကြ သည်။ ကားစင်တစ်ဖက်တစ်ချက်တွင် တန်းစီ ရပ်နေသည့် စစ်သားများသည် လှည့်၍ ခြေလှမ်းညီညီဖြင့် ချီတက် သွားကြ၏။ ပစ်ပြီးသား သေနတ်များ ကိုင်ထားသည့် လက်ဖြောင့်တပ်သား တစ်ဆယ်နှစ် ယောက်သည် စက်ဝိုင်း အလယ်ကောင်တွင် ရပ်နေရာမှ ၎င်းတို့နေရာအသီးသီး သို့ ပြန်ပြေးလာကြသည်။

ပီယာသည် စက်ဝိုင်းထဲမှ နှစ်ယောက်စီ ပြေးထွက် လာကြသော လက်ဖြောင့်တပ်သားများကို မျက်လုံးအပြူး သားဖြင့် ကြည့်မိသည်။ တစ်ယောက် မှအပ ကျန်လက် ဖြောင့်တပ်သားများသည် ချီတက်လျက်ရှိသော ၎င်းတို့ တပ်စုထဲ သို့ နေရာဝင်ယူကြသည်။ အသက်ခပ်ငယ်ငယ် စစ်သားလေးတစ်ယောက်မှာမူ သေနတ်ကို မြေကြီးတွင် ထောက်ကာ နဂိုနေရာတွင် မလှုပ်မရှား ရပ်လျက် ရှိ သည်။ ၎င်း၏မျက်နှာသည် လူသေ၏မျက်နှာကဲ့သို့ ဖြူ ရော်လျက် ရှိ၏။ ဦးထုပ် ပျော့သည်ခေါင်းနောက်သို့ လန် လျက် ရှိသည်။ ထိုစစ်သားလူငယ်သည် အရက်မူး သူကို သို့ ဒယီးဒယိုင်ရှိရာက ခြေထောက်များဖြင့် ကိုယ်ကို ဟန်လျက် ရှိသည်။ အသက်ကြီးကြီး အရာခံဗိုလ်တစ် ယောက်သည် တန်းစီရာမှ ပြေးထွက်လာကာ ထိုစစ်သား လူရွယ်ကို တန်းစီရာသို့ ဆွဲခေါ်သွားသည်။ တဖြည်းဖြည်း နှင့် ပွဲကြည့် ပရိသတ်တို့လည်း ကွဲစပြုလေပြီ။ ၎င်းတို့ အားလုံးသည် ခေါင်းငိုက်စိုက်ဖြင့် တိတ်ဆိတ်စွာ ထွက်ခွာ သွားကြလေသည်။

"မီးရှို့ချင်တဲ့ကောင်တွေကို ဒီလို ဆုံးမပေးရတယ် ကွ။ သိရဲ့လား" ပြင်သစ် စစ်သားတစ်ယောက်က ပြော လိုက်၏။

ပီယာသည် ထိုစစ်သားကို ကြည့်လိုက်သည်။ ထိုစစ်သားကား မိမိပြုခဲ့သော အမှုအတွက် စိတ်ဖြေသိမ့် ရာကို ရှာဖွေလျက်ရှိသော်လည်း ဖြေသိမ့်ရာကို ရှာမ

တွေ့ နိုင်သည့် စစ်သားတစ်ယောက် ဖြစ်လေသည်။ ထိုစစ်သား  သည် စကားကို ဆက်လက်ပြောဆိုခြင်းမရှိတော့ဘဲ စိတ် ပျက်လက်ပျက်ဖြင့် လက်တစ်ဖက်ကို ဝှေ့ယမ်း၍ ထွက် သွားလေသည်။

# အခန်း ၁၂

အကျဉ်းသားများကို ပစ်သတ်ပြီးနောက် ပီယာကို အခြား အကျဉ်းသားများ နှင့် ခွဲထုတ်ကာ ညစ်ပတ်လှသော သုဓမ္မာ ဇရပ်ပျက်ကလေးတစ်ခုတွင် တစ်ယောက်တည်း ချုပ်ထား ကြပြန်သည်။

ညနေစောင်း၌ အရာခံဗိုလ်တစ်ဦးနှင့် စစ်သားနှစ် ယောက် ရောက်လာကာ မိမိအား သေဒဏ်မှ လွတ်လိုက် ကြောင်း၊ ယခု စစ်သုံ့ပန်းများထားရာတန်းလျားသို့ ပြောင်း ရွှေ့ရမည် ဖြစ်ကြောင်းဖြင့် ပြောဆိုကြ၏။ ပီယာသည် ၎င်းတို့စကားကို ရေရာစွာ နားလည်ခြင်း မရှိသော်လည်း ၎င်းတို့ခေါ်ရာသို့ ထလိုက်လာခဲ့သည်။ ၎င်းတို့သည်ပီယာ အား `ကွင်းပြင်ထိပ်သို့ ခေါ်သွားကြ၏။ ကွင်းထိပ်၌ မီး လောင် သစ်သားစများနှင့် ဆောက်လုပ်ထားသည့် တဲအချို့ ရှိသည့်အနက် ပီယာကို တဲ တစ်တဲသို့ ခေါ်သွားကြ၏။

မှောင်မည်းလျက်ရှိသော တဲအတွင်းမှ လူနှစ်ဆယ်တို့သည် ပီယာအနီးသို့ ဝိုင်းအုံလာကြ၏။ ပီယာသည် ၎င်းတို့ကို ကြည့်လိုက်မိသည်။ မည်သူမည်ဝါဟု လည်း မသိ။ အဘယ် ကြောင့် ၎င်းတို့ တဲတွင်းသို့ ရောက်နေကြသည်ကို လည်း မသိ။ ၎င်းတို့ မည်သည့်အကြောင်း မေးမြန်းနေသည် ကိုလည်း မသိချေ။ ၎င်းတို့ စကားများကို ပီယာ ကြားပါ သည်။ သို့ရာတွင် ထိုစကားများ၏ အဓိပ္ပာယ်ကို ပီ ယာ နားမလည်ချေ။ ၎င်းတို့စကားများကို နားလည် အောင်လည်း ကြိုးစားခြင်း မ

ပြုတော့ချေ။ ပီယာသည် ၎င်းတို့မေးမြန်းသော မေးခွန်းများကို ဖြေဆိုခြင်းပြု၏။ သို့ရာတွင် မိမိစကားများကို မည်သူက နားထောင်၍ မည်သို့ နားလည်ကြသည်ကို လည်း မသိချေ။ ပီယာသည် ၎င်းတို့၏ မျက်နှာများ၊ ပုံပန်းသဏ္ဌာန်များကို ကြည့်၏။ သို့ရာတွင် ပီယာ့အဖို့၌ကား ၎င်းတို့အားလုံးသည် မည်သို့ နားလည်ရ မှန်း မသိအောင် အဓိပ္ပာယ်ကင်းမဲ့လျက် ရှိ လေသည်။ ယခင်က ပီယာမြင်ခဲ့တွေ့ခဲ့ ဖူးသော အရာခပ်သိမ်း  တို့သည် သူ့နည်းနှင့်သူ အဓိပ္ပာယ်ရှိခဲ့ကြ၏။ အသက်ရှင် လှုပ်ရှားလျက် ရှိသည်ဟု ထင်ရ၏။ သို့ရာတွင် မိမိတို့၏ ဆန္ဒမပါဘဲ ကျူးလွန်ခဲ့ကြ ရသော ပြင်သစ်စစ်သားများ၏ ကြောက်ဖွယ် လူသတ်ပွဲကြီးကို မြင်တွေ့ခဲ့ရသည့် နောက် ၌ကား အရာခပ်သိမ်းတို့ မှီခိုရာ အရာခပ်သိမ်းတို့ကို အသက်ရှင် လှုပ်ရှား အောင် တွန်းဆော်ပေးသည့်အရာဟု ထင်ရသော မိမိဘဝတည်းဟူသော ပင်မ စပ ရိန်ကြီးသည် ရုတ်တရက် ကျိုးပဲ့သွားခဲ့လေပြီ။ ထိုသည်နှင့် တစ်ပြိုင် နက် မြင် တွေ့သမျှ အရာခပ်သိမ်းတို့သည် အဓိပ္ပာယ်ကင်း မဲ့သော အပျက်အစီးပုံကြီးအဖြစ် သို့ ရောက်သွားခဲ့လေ ပြီ။ ပီယာသည် ထိုအချက်ကို မိမိဘာသာ သတိပြုမိခြင်း မရှိ သေးသော်လည်း စကြဝဠာကြီး၌ ဒူးနေရာဒူး၊ တော် နေရာတော် ဆိုသကဲ့သို့ အရာ ခပ်သိမ်း စနစ်တကျ ပုံမှန် တည်ရှိနေသည်ဟူသောတရား၌ ယုံကြည်ခြင်း၊ လူ့လောက ကြီးသည် ပျော်ရွှင်နှစ်လိုဖွယ်ရှိသည်ဟူသော တရား၌ ယုံကြည်ခြင်း၊ မိမိဝိညာဉ်၏ ဖြူစင်သန့်ရှင်းခြင်းကို ယုံ ကြည့်ခြင်း၊ ထာဝရဘုရားသခင်၌ ယုံကြည်ခြင်း စသည့် ယုံကြည်ခြင်းတရား ဟူသမျှတို့သည် ပျောက်ကွယ်ပျက် စီး ခဲ့ကြလေပြီ။ ပီယာသည် ဤသို့ ယုံကြည်ခြင်းသဒ္ဓါတရား ခန်းခြောက်ခြင်းမျိုးကား တစ်ခါဖူးမျှ မတွေ့ဖူးသေးချေ။ ယခင့်ယခင်အခါများက ဤသို့ ယုံကြည်ခြင်း သဒ္ဓါတရား ခေါင်းပါး၍ ဥဒ္ဓစ္စတည်းဟူသော စိတ်၏ ဆောက်တည်ရာ မရ ပျံ့လွင့် ခြင်းမျိုး ကြုံရတိုင်း “ဤကား ဘယ်သူမပြု၊ မိမိမှုဆိုသကဲ့သို့ မိမိအမှား မိမိဒုစရိုက် ကြောင့် ဖြစ်ရခြင်း ဖြစ်သည်။ ထို့ကြောင့် ဤသို့ ယုံကြည်ခြင်းတရား ခေါင်း ပါး

ခြင်း၊ ဆောက်တည်ရာမရ ဖြစ်ခြင်းတို့မှ ဖြေသိမ့်ရာ ကို မိမိ၏ အတွင်းသဏ္ဍာန်၌ ရှာဖွေတွေ့ရှိနိုင်သည်”ဟု အားတင်းနိုင်ခဲ့သည်။ သို့ရာတွင် ယခုမူ မိမိကိုယ်တိုင်က ဒုစရိုက်အမှုကို ကျူးလွန်ခြင်းမရှိပါဘဲလျက် စကြဝဠာ ကြီးတစ်ခုလုံးသည် မိမိ မျက်မှောက်၌ အစိတ်စိတ် အမြွှာ မြွှာကွဲအက် ကြေပြုန်းသွားခဲ့လေပြီ။ အဓိပ္ပာယ် ကင်းမဲ့သော အပျက်အစီး၊ အကျိုးအပဲ့များအဖြစ်သို့ ရောက်လာခဲ့လေ ပြီဟု ပီယာ ခံစားမိသည်။ လူ့ဘဝတွင်အသက်ရှင်နေရခြင်း သည် အဓိပ္ပာယ်ရှိသေးသည်ဟု ပီယာ ယုံကြည်ခြင်း မရှိ တော့ပြီ။ ထိုယုံကြည်ချက်မျိုး ပြန်လည်ရရှိအောင်လုပ်ရန် မိမိတွင်လည်း စွမ်းအားမရှိတော့ပြီး  မိမိ၏ပတ်လည်အမှောင်ထဲ၌ လူအချို့သည် ရပ် လျက် ရှိကြ၏။ ၎င်းတို့သည် မိမိနှင့် ပတ်သက်၍ တစ်စုံ တစ်ရာကို စိတ်ဝင်စားနေဟန် ရှိ၏။ ၎င်းတို့သည် မိမိအား တစ်စုံတစ်ရာကို ပြောဆိုလျက်ရှိ၍ တစ်စုံတစ်ရာ မေးမြန်း လျက်လည်း ရှိကြ၏။ ထို့နောက် မိမိအား တစ်နေရာ သို့ ခေါ်သွားကြ၏။ နောက်ဆုံး၌ ပီယာသည် တဲထောင့် တစ်နေရာတွင် ရောက်လျက် သားရှိနေကာ ၎င်း၏ပတ် လည်တွင် ရယ်မောလျက်၊ စကားပြောလျက် ရှိကြ သူများ ကို တွေ့ရလေသည်။

“ကဲ-ရဲဘော်တို့ ဆက်ပြော၊ ဒါနဲ့ အီဒီမင်းသား ဟာ” တဲ၏ တစ်ဖက်ထောင့်မှ အသံတစ်သံ ထွက်လာ ၏။ ထိုအသံက “မင်းသားဟာ'ဆိုသော စကားလုံးကို ( အသံမြှင့်၍ ပြောလိုက်၏။

ပီယာသည် နံရံကိုမှီကာ ကောက်ရိုးပုံပေါ်တွင် မလှုပ်မယှက် တိတ်ဆိတ်စွာ ထိုင်လျက်ရှိရင်း တစ်ခါတစ်ရံ တွင် မျက်လုံးများကို ဖွင့်ကြည့်လိုက်၏။ ထိုနောက် တစ်ဖန် မှိတ်လိုက်ပြန်သည်။ သို့ရာတွင် မျက်လုံးမှိတ် လိုက်သည်နှင့် တစ်ပြိုင်နက် အလုပ်သမားလူငယ်၏ ကြောက်လန့်စဖွယ် မျက်နှာကို မြင်နေမိသည်။ (ထိုမျက်နှာ ၏ ရိုးသားဖြူစင်သောအသွင်ကြောင့် ပို၍ကြောက်စရာ

ကောင်းနေခြင်း ဖြစ်ပါသည်။) တစ်ဖန် တုန်လှုပ်ချောက် ချားလျက် ရှိခြင်းကြောင့် ပို၍ ကြောက်စရာကောင်းလျက် ရှိသည့် လူသတ်သမားစစ်သားများ၏ မျက်နှာများကို လည်း မြင်မိပြန်သည်။ ထို့နောက် ပီယာသည် မျက်လုံး များကို ဖွင့်လိုက် ပြန်လျက် မိမိပတ်ဝန်းကျင်ရှိ အမှောင် ထုကြီးထဲသို့ ငေးစိုက်ကြည့်မိပြန်သည်။

မိမိဘေးတွင် ပုပုဝိုင်းဝိုင်းလူတစ်ယောက်သည် ကုန်းကုန်းကြီး ထိုင်လျက် ရှိ၏။ လှုပ်ရှားလိုက်တိုင်း ၎င်း ၏ကိုယ်မှ ပျံ့လွင့်လာသော စူးရှသည့် ချွေးနံ့ကြီးကြောင့် ပီယာသည် မိမိအနီးတွင် ထိုလူရှိနေခြင်းကို ခပ်စောစော ကတည်းက သတိပြုခဲ့မိသည်။ ထိုလူသည် မှောင်ကြီး မည်းမည်းတွင် ၎င်း၏ ခြေထောက်ကို တစ်စုံတစ်ရာ ပြု လုပ်လျက်ရှိ၏။ ထိုလူ၏ မျက်နှာကို မမြင်ရသော်လည်း ထိုလူသည် မိမိအား စိုက်ကြည့်လျက် ရှိသည်ဟု ပီယာ ခံစားမိသည်။ အမှောင်ကို မျက်လုံးများ ကျင့်သားရလာ သည့်အခါကျမှ ထိုလူသည် ခြေပတ်များအား ဖြေလျက်ရှိ ခြင်းကို ပီယာ မြင်ရသည်။ ပီယာသည် ထိုလူခြောက် ထောက်မှ ခြေပတ်များ ဖြေနေပုံကို စိတ်ဝင်စားစွာ ကြည့် နေမိသည်။

ခြေထောက်တစ်ဖက်တွင် ပတ်ထားသော ခြေပတ် ပေါ်မှ ကြိုးကို ဖြေလိုက်ပြီးသည့်နောက်၌ ထိုလူသည် ခြေပတ်ကို သေသေချာချာလိပ်ကာ အခြားတစ်ဖက်မှ ခြေပတ်များကို ဆက်ဖြေရင်း ပီယာကို ကြည့်နေပြန်သည်။ ထိုလူသည် လက်တစ်ဖက်ဖြင့် ကြိုးကိုခွေရင်း အခြားတစ် ဖက်ဖြင့် တစ်ဖက်က ပတ်တီးကို ဖြေလျက်ရှိသည်။ ဤ သို့ဖြင့် ထိုလူသည် လက်ကိုဖွေ့ယမ်းကာဖြင့် ခြေပတ်ကို ကျွမ်းကျင်စွာ ဖြေကာ လိပ်လိုက်ပြီးနောက် ၎င်း၏ခေါင်း ရင်းတွင် ရှိသည့် ချိတ်တစ်ခုတွင် ထိုခြေပတ်ကို ချိတ်ထား လိုက်သည်။ ထိုနောက် မောင်းချခားတစ်ချောင်းကို ထုတ် ကာ တစ်စုံတစ်ရာကို လှီးပြီးလျှင် ဓားကို ပြန်ပိတ်၍ အိပ်ရာအောက်သို့ ထိုးထားလိုက်သည်။ ထို့နောက် အိပ်ရာ လိပ်ကို မှီကာ ထောင်ထား

သော ဒူးနှစ်ဖက်ကို လက်ချင်း ဆက်၍ ပိုက်လိုက်ပြီးနောက် ပီယာကို စူးစိုက် ကြည့်လျက် ရှိ၏။ ထိုလူ၏ လျှင်မြန်ဖျတ်လတ်သော လှုပ်ရှားပုံ ၎င်း ၏ချောင် ကလေးထဲတွင် ပစ္စည်းကလေးများကို နေရာတကျ သပ်သပ်ရပ်ရပ်ထားတတ်ပုံတို့မှာ သက်သောင့်သက်သာ စိတ် အေးလက်အေးနှင့် နှစ်လိုဖွယ် ရှိပါဘိတော့သည်ဟု ပီ ယာ တွေးမိသည်။ ထိုလူ၏ စူးရှလှသော ချွေးနံ့ကြီးကိုပင် ပီယာသည် ရွံစရာ ကောင်းသည်ဟု မထင်မိတော့ချေ။ ထိုလူ၏ လှုပ်ရှားမှုတစ်ခုလုံးသည် အမှောင် ထဲ၌ ဝိုင်းဝိုင်း အရာကြီးတစ်ခု လိမ့်လာသည်နှင့်ပင် တူတော့သည်။ ပီယာသည် ထို လူကိုသာ စူးစိုက်ကြည့်နေမိသည်။

“ရဲဘော်ကြီး စိတ်ညစ်နေသလားဗျ” ထိုဝိုင်းဝိုင်း လူက ရုတ်တရက် မေး လိုက်သည်။

ထိုလူ၏ သီချင်းဆိုသကဲ့သို့ နာပျော်ဖွယ်ကောင်း သောအသံထဲမှ ကြင်နာ သနားတတ်ခြင်း၊ ရိုးသားဖြောင့် မတ်ခြင်းဟူသော ဂုဏ်သတ္တိတို့သည် ပြည့်လျှမ်း လျက် ရှိလေရာ ပီယာသည် စကားပြန်ဖို့ ကြိုးစားသော်လည်း နှုတ်ခမ်းတွေ တုန် လာကာ မျက်ရည်တွေ ဝဲလာသည်။ ထိုပုပုဝိုင်းဝိုင်းလူက ပီယာ၏ အခြေအနေကို ရိပ်မိဟန် မရှိဘဲ စောစောကကဲ့သို့ ချိုသာသောအသံဖြင့် စကားဆက် လိုက် ပြန်သည်။

”စိတ်ညစ်မနေနဲ့ ရဲဘော်ရေ၊ စိတ်ညစ်မနေနဲ့” ထိုလူက ရုရှားလယ်သမား ကြီးများ ပြောလေ့ရှိသည့် အားပေးနှစ်သိမ့်သော လေသံမျိုးဖြင့် ပြောလိုက်သည်။ “ဘာမှ စိတ်ညစ်မနေနဲ့ဗျ။ တစ်နာရီခံရင် တစ်သက်စံရ သတဲ့ဗျ။ စကားပုံရှိတယ် မဟုတ်လား။ လူ့ဘဝဆိုတာ ဒီလိုပေါ့ဗျာ။ မဟုတ်ဘူးလား။ ကြည့်လေဗျာ။ ဖြစ် ချင် တော့ ကျုပ်တို့မှာ ဘာအပြစ်မှမရှိဘဲ အချောင်ခံနေကြ ရပြီ။ ဟောဒီ အကျဉ်းသားတွေထဲမှာလဲ လူကောင်းတွေ ရှိသလို 'လူဆိုးတွေလဲ ရှိတာပဲဗျ”

ထိုလူသည် စကားပြောရင်း ဆတ်ခနဲ ထလိုက် ပြီးနောက် ချောင်းတဟွတ်ဟွတ်ဆိုးကာ တဲတစ်ဖက်အစွန် သို့ လျှောက်သွားသည်။

"ဟော့၊ ဆိုးတေကြီးလားကွ" ကြင်နာသနားဟန် ရှိသော ထိုအသံသည် တဲတစ်ဖက်အစွန်းမှ ပေါ်ထွက်လာ ပြန်၏။ "ဟော့ကောင်ကြီး၊ ခုပြန်လာသပေါ့လေ ဟုတ် လား။ ဆိုးတေကြီး အံမယ် ချွဲနေလိုက်တာ။ မှတ်မိလို့ လားဟင်။ တော်ပြီ တော်ပြီ "

ထိုလူသည် မိမိခြေထောက်ပေါ်သို့ ခုန်တက်နေ သော ခွေးငယ်လေးတစ်ကောင်ကို တွန်းဖယ်ရင်း ၎င်း၏ နေရာသို့ ပြန်လာကာ အိပ်ရာပေါ်တွင် ထိုင်လိုက်၏။ ၎င်း၏ လက်ထဲ၌ကား အဝတ်စုတ်ဖြင့် ထုပ်ထားသော အရာတစ်ခု ပါလာလေသည်။

"ါ ရဲဘော်ကြီး နည်းနည်းစားလိုက်ပါဦးလေဗျာ" ထိုလူသည် ပီယာကို လှမ်းပြောကာ အထုပ်ဖြေ၍ အာလူး ဖုတ်တချို့ကို လှမ်းပေးနေသည်။

"ညစာအတွက် ဟင်းချိုတစ်ပန်းကန် ရတယ်ဗျ။ အာလူးကတော့ ပထမ တန်းပဲဗျို့"

ပီယာသည် တစ်နေ့လုံး ဘာမျှမစားခဲ့ရသေးချေ။ အာလူးဖုတ်နံ့သည် အထူး မွှေးကြိုင်လျက် ရှိသည်ဟု ပီယာ ထင်မိ၏။ ပီယာသည် ကျေးဇူးတင်စကားဆိုကာ အာလူးဖုတ်ကို စားနေသည်။

"ဘယ်နှယ့်လဲ စားလို့ မကောင်းလားဗျာ" ထိုလူမ က ပြုံး၍ မေးလိုက်သည်။ "ဒီလို စားရတယ်ဗျ"

ထိုလူသည် အားလုံးတစ်လုံးကို လက်ဝါးပေါ်တင် ကာ မောင်းချခားဖြင့် ထက်ခြမ်း ခြမ်းလိုက်၏။ ထို့နောက် အထုပ်ကလေးထဲမှ ဆားအနည်းငယ်ကို ယူ၍

ဖြူးလိုက် ပြီး ပီယာကို လှမ်းပေးလိုက်သည်။

“အာလူးတွေကတော့ ပထမတန်းပဲဗျို့။ ဆားလေး ဖြူးစားတော့ ပိုတောင် အရသာရှိသေး”

ပီယာတစ်သက်တွင် ထိုမျှအရသာရှိသော အစာ ကို တစ်ခါမျှ စားဖူးခဲ့သည် မထင်မိချေ။

“ဟုတ်ကဲ့။ အရသာရှိပါတယ်။ ဒါထက် ဘာဖြစ် လို့ အကျဉ်းသားတွေကို ပစ်သတ်တာလဲဗျ။ နောက်ဆုံး ပစ်သတ်ခံရတဲ့လူဟာ အသက်နှစ်ဆယ်လောက်ပဲ ရှိရှာ ဦးမယ်”

“အင်း ဝဋ်ကြွေး ကူးပေါ့လေ။ စကားလုံးများသည် ပါးစပ်ထဲတွင် အဆင်သင့် ရောက်နေသည့်နှယ် အစီအရီ ထွက်လာကြပြန်သည်။

“ရဲဘော်ကြီးကကော မော်စကိုမှာ ဘယ်လိုလုပ် ကျန်ရစ်ခဲ့တာလဲ”

“ကျွန်တော်လဲ ဒီပြင်သစ်ကောင်တွေ ဒီလောက် မြန်မြန် မရောက်သေးဘူး ထင်လို့ပဲ။ မတော်တဆ ကျန် နေရစ်တယ်ဆိုပါစို့” ပီယာ ပြောလိုက်၏။

“ရဲဘော်ကြီးက ဘယ်လိုအဖမ်းခံရတာလဲဗျ။ အိမ် ကို လာဖမ်းတာလား”

“မဟုတ်ပါဘူး။ ကျွန်တော် မြို့ထဲလျှောက်ပြီး မီးကြည့်နေတုန်း မီးတုတ်တင်ရှို့တယ်ဆိုပြီး ဆွဲလာတာပဲ”

“အေးလေ။ တရားဥပဒေရှိရင် မတရားဥပဒေဆို တာလဲ ရှိရမှာပေါ့”ဟု ထိုလူဝိုင်းဝိုင်းက ပြောလိုက်သည်။

“ရဲဘော်ကြီးကကော အဖမ်းခံရတာ တော်တော် ကြာပလား” ပီယာက နောက်ဆုံးအာလူးစိတ်ကို ဝါးရင်း မေးလိုက်သည်။

"ကျုပ်လား။ ပြီးခဲ့တဲ့ တနင်္ဂနွေနေ့က အဆွဲခံရတာ လေ။ ဆေးရုံက ဆွဲလာတာ"

"ဘာဖြစ်လို့လဲ။ ရဲဘော်ကြီးက စစ်သားလား"

"အယ်ရှာရွှန်တပ်ရင်းကလေ။ ဖျားလို့ ဆေးရုံတက် နေတာဗျ။ ကျုပ်တို့လဲ ဘာမှ မသိရဘူး။ ဆေးရုံမှာ မပြောဘူး။ ဘာတွေဖြစ်နေမှန်းလဲ မသိဘူး။ အချောင်အဖမ်းခံလာရတာ"

"ဒီရောက်တော့ စိတ်မညစ်ဘူးလား" ပီယာက မေး၏။

"ညစ်တော့ ညစ်တာပေါ့ ရဲဘော်ကြီးရာ။ ကျုပ်  နာမည်ပလာတွန် ကာရာတာယက်ပါ။ ကာရာတာယက် ဆိုရင်လဲ ရပါတယ်" ထိုလူက ပီယာ အခေါ်ရလွယ်စေ ( လိုဟန်ဖြင့် နာမည်အတိုကောက်ကို ပြောလိုက်သည်။

"တပ်ထဲမှာတော့ ကျုပ်ကို "ဂျိုးသိမ်း"လို့ ခေါ်ကြပါတယ်။ ၊ မညစ်ဘူးရယ်လို့ ဘယ်ရှိမလဲဗျာ။ မော်စကိုမြို့ဟာ မြို့ တကာတို့၏ မိခင်လို့ ဆိုကြသမူလား။ ဒီလိုအခြေအနေ ကြီး မြင်လိုက်ရတော့ စိတ်မညစ်ဘဲ ဘယ်နေနိုင်ပါ့မလဲ။ ဒါပေမဲ့ "

ပိုးလောက်လန်းများ မုန်လာစားက မုန်လာမသေ လောက်လန်းသေ၏"တဲ့ဗျ။ ရှေးကလူကြီးများပြောသံ ကြားဖူးတယ်"

"ဘာဗျ၊ အဓိပ္ပာယ်က ဘာတဲ့လဲ" ပီယာက မေး သည်။

"ဗျာ" ကာရာတာယက်က ဆိုသည် "ကျုပ်တို့ ကြံ့စည်တိုင်း မဖြစ်ဘုရားသခင် ဖန်တီးတဲ့အတိုင်းသာ ဖြစ်ကြရတယ်ဆိုတဲ့ အဓိပ္ပာယ်ပေါ့ဗျာ" ကာရာတာယက် က ခပ်စောစောက ၎င်းပြောသည့်စကား၏ အဓိပ္ပာယ် နှင့် အတူတူဖြစ်သည်ဟု ယူဆလျက် ပီယာကို ပြန်ပြော လိုက်သည်။ ထို့နောက် ဆက်၍

”ဒါထက် နေစမ်းပါဦးဗ်။ ရဲဘော်ကြီးကကော။ ရဲဘော်ကြီးမှာ ပိုင်စားနယ်မြေတွေ ဘာတွေ ရှိသလား။ ကိုယ့်အိုး ကိုယ့်အိမ်နဲ့ပေါ့နော်။ ဒီလိုဆို ရဲဘော်ကြီးက ဖူဖူလုံလုံပေါ့။ အိမ်ရှင်မများကော ရဲဘော်ကြီးရဲ့ မိဘများ ကော ရှိကြသေးသလား”

မှောင်မည်းလျက်ရှိသော်လည်း ထိုမေးခွန်းများကို မေးမြန်းလျက် ရှိချိန်၌ ထိုလူဝိုင်းဝိုင်း၏ နှုတ်ခမ်းပေါ်တွင် ကြင်နာတတ်သော အပြုံး ရစ်ဝဲနေပေလိမ့်မည်ဟု ပီယာ တွေးမိ၏။ ပီယာတွင် မိဘများ မရှိတော့။ အထူးသဖြင့် မိခင်မရှိတော့ဟု ကြားရသောအခါ၌ ထိုလူဝိုင်းဝိုင်းသည် များစွာ စိတ်မကောင်း ဖြစ်သွားပုံရသည်။

“ဇနီးကို တိုင်ပင်ရာ၏။ ယောက္ခမကို ကြိုဆို ရာ၏။ အမိကို မြတ်နိုးရာ၏တဲ့ဗျ။ မိခင်လောက် ချစ် မြတ်နိုးအပ်သူတော့ မရှိဘူးဗျ။ ဒါထက် သားသမီးများ ကော”

သားသမီး မရှိဟူသော ပီယာ၏ စကားကြား သော် ထိုလူဝိုင်းဝိုင်းသည် ပီယာအတွက် တစ်ဖန် စိတ် မကောင်းဖြစ်သွားဟန် တူပြန်သည်။ ပြီးမှဆက်၍

”ကိစ္စမရှိပါဘူးလေ။ ရဲဘော်ကြီး ငယ်ငယ်ရှိသေး တာပဲ ရနိုင်ပါသေးတယ်။ အရေးကြီးတာက အိမ်ထောင် ရေးသုခ”

“ခုတော့ မထူးတော့ပါဘူးဗျာ။ အဖမ်းခံနေရပြီ ပဲ” ပီယာက ညည်းလိုက်သည်။

“အို ဒီလို မဟုတ်သေးဘူးလေဗျာ။ ရဲဘော်ကြီးရ” ကာရာတာယက်က ပြောလိုက်သည်။ “အကျဉ်း ထောင်နဲ့ သူတောင်းစားရဲ့ ခွက်ကို မငြင်းပယ်ကောင်းဘူးတဲ့ဗျ”

ထိုလူဝိုင်းဝိုင်းသည် စကားရှည်ရှည် ပြောမည့်ဟန် နေရာပြင်လိုက်ပြီးနောက် ချောင်းဆိုးလိုက်သည်။

{ "ကျုပ်အကြောင်းကတော့ ဒီလိုရဲဘော်ကြီးရေ" ၎င်းက စကားစလိုက် သည်။ "ကျုပ်တို့မှာ အိမ်လေးတစ် ဆောင်နဲ့ မြေကလေးယာကလေး အသင့်အတင့်ရှိသဗျ။ လယ်သမားအလျောက် ကောင်းကောင်းမွန်မွန်လေး နေ နိုင် တယ်ဆိုပါတော့ဗျာ။ ဘုရားကိုယ်တော်မြတ်ကြီးရဲ့ ကျေးဇူးကြောင့် အဖေရယ် ကျုပ်ရယ်က လယ်လုပ်ကြ တယ်ဗျ။ မွေးချင်းက ခုနစ်ယောက်။ အားလုံး အေးအေး ဆေးဆေးပါပဲ။ လယ်သမားပီပီပေါ့လေ။ ဒါပေမဲ့ ဖြစ် ချင်တော့"

ကာရာတာယက်က သူတစ်ပါး၏ သစ်တောထဲ ဝင်၍ ထင်းခုတ်မိပုံ၊ သစ်ပင် လှဲစဉ် ဖမ်းမိပုံ၊ တရားစွဲခံရပုံ၊ ကြိမ်ဒဏ်ရိုက်ခံရပုံ၊ ထို့နောက် စစ်တပ်ထဲ လိုက်လာ ရပုံ စသည့် ၎င်း၏ အတ္ထုပ္ပတ္တိရှည်ကြီးကို ပြောပြလေသည်။

"ရဲဘော်ရေ ဖြစ်ချင်တော့" ကာရာတာယက်၏ အပြုံးသည် ၎င်း၏ အသံနေအသံထားကို ပြောင်းသွားစေ သည်ဟု ထင်ရ၏။ "အစတုန်းက ဂြိုဟ်ဆိုး ဝင်တယ်လို့ အောက်မေ့ခဲ့မိတာ။ နောက်တော့ လာဘ်တိုက်တာ ဖြစ်နေ သဗျ။ တကယ်လို့ ကျုပ်သာ သူများတောထဲဝင်ပြီး ထင်း လဲမခုတ်မိခဲ့ဘူးဆိုရင် တရားစွဲ လဲ ခံရမှာ မဟုတ်ဘူး။ စစ်တပ်ထဲလဲ ရောက်လာမှာမဟုတ်ဘူး။ ကျုပ် စစ်ထဲ မ ရောက်ရင် ဘယ်သူရောက်မလဲ ကျုပ်ညီပဲ ရောက်ရတော့ မပေါ့ဗျ။ ကျုပ်တို့ မွေးချင်းထဲက စစ်ထဲကို တစ်ယောက် မဝင်ရင် တစ်ယောက်ယောက်တော့ ဝင်ရ မှာပဲ။ ခုတော့ ကျုပ်လိုက်လာရတဲ့အတွက် ကျုပ်ညီ သက်သေသွားပြီ လေ။ ကျုပ် ညီသာ စစ်ထဲလိုက်ရရင် ဒီကောင်မှာ ကလေး ငါးယောက်နဲ့ဗျ။ ကျုပ်ကတော့ လင်ကို မယားကို။ ဘာကိ စ္စရှိမလဲ။ ကျုပ်တို့မှာ သမီးလေးတစ်ယောက်တော့ ရ ဖူး သဗျ။ ဒါပေမဲ့ သမီးလေး သက်ဆိုးမရှည်ရှာဘူး။ ကျုပ် စစ်ထဲမဝင်ခင် ကတည်းက ဆုံးသွားတယ်။ ဒါနဲ့ ကျုပ်လဲ တပ်ကခွင့်ယူပြီး ပြန်သွားရော။ ဘယ်လို ဖြစ်နေတယ် ထင်သလဲ။ တစ်အိမ်လုံးဟန်ကျလို့ဗျာ။ အရင်ကထက် စီးပွားရေး

ကောင်းလို့ ခြံထဲမှာဆိုလဲ ကျွဲတွေ၊ နွားတွေနဲ့၊ မိန်းမတွေဆိုတာလဲ ရွှေတွဲလဲ၊ ငွေတွဲလဲ။ ညီအငယ်ကောင် နှစ်ယောက်ကလဲ တခြားသွားအလုပ်လုပ်နေကြတယ်။ သူတို့ ဝင်ငွေကလေးနဲ့သူတို့ပေါ့လေ။ အငယ်ဆုံးကောင် မိုက်ခဲတစ်ယောက်ပဲ အိမ်မှာ အဖေနဲ့အတူ ကျန်ရစ်တယ်။ အဖေကတော့ ဘယ်သားသမီးဖြစ်ဖြစ် အတူတူချစ်တာ ပါပဲကွာတဲ့။ ဘယ်လက်ချောင်းကို ဖြတ်ဖြတ် နာတာချည်း ပါပဲတဲ့။ မင်းစစ်ထဲလိုက်မသွားရင်လဲ မိုက်ခဲလိုက်ရမှာပါ ပဲတဲ့။ ကျုပ်ရောက်သွားတော့ အဖေက ကျုပ်တို့တစ်တွေကို ခေါ်ပြီး ဘုရားရှေ့မှာ သစ္စာဆိုခိုင်းတယ်။ ပြီးတော့ မိုက်ခဲရော၊ ချွေးမတွေရော၊ မြေးတွေရော ဘုရားရှေ့မှာ သစ္စာ ဆိုခိုင်းတယ်။ ပြီးတော့ တို့ခုလို ကောင်းကောင်းမွန်မွန် နေနိုင်တာ ဘုရား၊ တရားဂုဏ်ကျေးဇူးကြောင့်တဲ့။ အဖြစ် ကတော့ ဒီအတိုင်းပဲ ရဲဘော်ကြီးရဲ့၊ သူ့ကြမ္မာနဲ့သူ ဖြစ် လာကြတာပဲ။ ကျုပ်တို့ကြံတိုင်း ဖြစ်တာ မဟုတ်ဘူး။ မကြံဘဲနဲ့လဲ ဖြစ်ချင်ဖြစ်လာတာပဲ။ ကံဆိုတာ မျှောလိုက် ထဲက ရေလိုပဲဗျ။ မျှောထားရင် ပိုက်ထဲရေတွေဝင်ပြီး ဖောင်းနေတယ်။ ဆွဲလဲ ဆွဲလိုက်ရော၊ ဘာမှမပါလာတော့ ဘူး။ ဒီလိုပဲ ရဲဘော်ကြီးရဲ့"

ကာရာတာယက်သည် ကောက်ရိုးအခင်းပေါ်တွင် နေရာရွှေ့ထိုင်လိုက်ပြန်သည်။ အတန်ကြာ တိတ်ဆိတ်နေ ပြီးနောက် ထိုင်ရာမှ ထလိုက်ရင်း

"ကဲ ရဲဘော်ကြီးလဲ အိပ်ချင်ရော့မယ်" ဟု ဆိုကာ လက်နှစ်ဖက်ယှက်၍ ဆုတောင်းပြီးနောက် တတွတ် တွတ် ရွတ်နေသည်။

"ဘုရားသခင် ကိုယ်တော်မြတ်ကြီးနှင့်တကွ ရှင်နီ ကိုလတ်၊ ရှင်ဖရိုလာ၊ ရှင်လာဗရာ ကိုယ်တော်မြတ်တို့ ဘုရား။ ဘုရားသခင်ကိုယ်တော်မြတ်နှင့်တကွ ရှင်နီကို လတ်၊ ရှင်ဖရိုလာ၊ ရှင်လာဗရာ ကိုယ်တော်မြတ်တို့ဘုရား။ ဤသို့ ဖူးမြော်ပူဇော်ကန်တော့ရသော အကျိုးကြောင့်  တပည့်တော်အား သနားစောင်မတော်မူပါဘုရား။ ဝင့် ဆင်းရဲမှ လွတ်မြောက်ရပါလို၏ ဘုရား"

ကာရာတာယက်သည် မြေကြီးအထိ ဦးခိုက် ကန်တော့ပြီးနောက် ထိုင်ရာမှ ထပြီး သက်ပြင်းတစ်ချက် ချကာ ၎င်း၏ ကောက်ရိုးပုံပေါ်တွင် ထိုင်ချလိုက်ပြန်သည်။

"ဘုရားသိကြားမလို့ တပည့်တော်အား ညတွင် ကျောက်တုံးကြီးလို လေးလေးကြီး အိပ်ပျော်ပြီး မနက် မှာ ပေါင်မိန့်လေးလို ပေါ့ပေါ့ပါးပါး နိုးလာပါစေဗျား"

ကာရာတာယက်သည် ဤသို့ ဆုတောင်း၍ လှဲချ လိုက်ကာ ၎င်း၏ ဝတ်ရုံအင်္ကျီကြီးကို ဆွဲခြုံလိုက်သည်။

"ဘာတွေ ရွတ်နေသလဲဗျ" ပီယာက မေးလိုက် .သည်။

"အင်" ခပ်မှေးမှေးပျော်စပြုနေသော ကာရာတာ ယက်က အိပ်ချင်မူးတူးသံဖြင့် ဆိုလိုက်သည်။ "ကျုပ်လား ဆုတောင်းတာလေ။ ရဲဘော်ကြီးကော ဆုမတောင်းဘူး လား"

"ကျွန်တော်လား တောင်းပါတယ်။ ဒါပေမဲ့ ရှင် ဖရိုလာတို့ ရှင်လာဇရာတို့ဆိုတာ ဘာတွေလဲ"

"ဩော် ဒါတွေလား" ကာရာတာယက်က ခပ် သွက်သွက်ပြောလိုက်၏။ "မြင်းစောင့်တဲ့နတ်တွေလေ။ တိရစ္ဆာန်တွေအတွက်လဲ ဆုတောင်းရသေးတယ်ဗျ။ အံမာ ဆိုးတေကြီးလားကွ၊ ဟုတ်လား။ ငါ့နားလာခွေပြီး ဇိမ်ကျ နေသပေါ်လေ။ ခွေးမသား" ကာရာတာယက်က ၎င်း၏ ခြေရင်းတွင် လာအိပ်နေသည့် ခွေးငယ်ကို ခြေဖြင့် တို့၍ ပြောလိုက်၏။ ထို့နောက် တစ်ဖက်သို့ စောင်းကာ တရှူး ရှူးဖြင့် ချက်ချင်း အိပ်ပျော်သွားလေသည်။

ခပ်ဝေးဝေးမှ ငိုသံများ၊ ငယ်သံပါအောင် အော်သံ များကို သဲ့သဲ့ကြားရ၏။ မီးတောက်များကို တ်နံရံစပ်ကြား မှ မြင်နေရလေသည်။ သို့ရာတွင် တဲထဲ၌ကား

မည်းမှောင် တိတ်ဆိတ်လျက် ရှိ၏။ ပီယာသည် တော်တော်နှင့် အိပ် မပျော်ချေ။ မျက်လုံးအကြောင်သားဖြင့် အမှောင်ထဲသို့ စူးစိုက်ကြည့်လျက်ရှိရာမှ မိမိဘေးတွင် တရှူးရှူးနှင့် အိပ် ပျော်လျက်ရှိသည့် ကာရာတာယက်၏ ဟောက်သံကို နားထောင်လျက် ရှိလေသည်။ ပြိုကွဲပျက်စီးခဲ့သော ကမ္ဘာ လောကကြီးသည် မိမိ၏ ဝိညာဉ်တွင်း၌ အသစ်ဖြစ်သော လှပတင့်တယ်ခြင်းကို ဆောင်ကာ အသစ် ဖြစ်၍ ခိုင်မြဲ  သော အခြေခံတစ်ခုပေါ်တွင် မွေးဖွားပေါ်ပေါက်လျက် ရှိသည်ဟု ထင်မှားလျက်ရှိပေသည်။

# အခန်း ၁၃

ပီယာသည် ထိုတဲပျက်ကလေးတွင် လေးပတ်မျှ အချုပ်ခံခဲ့ ရာ၌ ၎င်းနှင့် အတူ စစ်သားနှစ်ဆယ့်သုံးယောက် စစ်ဗိုလ် သုံးယောက်၊ အရပ်သားအရာရှိနှစ်ယောက်တို့နှင့် အတူနေခဲ့ ရသည်။

နောက်တွင် ၎င်းတို့အကြောင်းကို ပြန်စဉ်းစားလိုက် သောအခါ၌ ကာရာတာယက်မှအပ ကျန်လူများကို ကောင်းစွာ မှတ်မိတော့ခြင်း မရှိဘဲ ခပ်ဝါးဝါးဖြစ်လျက်ရှိလေသည်။ ကာရာတာယက်ကိုကား ပီယာမမှတ်မိဘဲ မနေနိုင်ချေ။ ၎င်း၏အာရုံ၌ ကာရာတာယက်သည် အပီ ပြင်ဆုံး၊ မြတ်နိုးစရာ အကောင်းဆုံး ရုပ်သွင်တစ်ခု ဖြစ် လျက်ရှိသည်။ ရုရှားမှု ရုရှားဟန်မှန်သမျှကို ကိုယ်စား ပြုရာ ရုပ်သွင်တစ်ခု ဖြစ်လျက်ရှိလေသည်။ နောက်တစ်နေ့ ( အရုဏ်တက်တန်းစီကြ၍ ၎င်းနှင့် အိပ်ရာချင်းကပ် အိပ်သူ ကို မြင်လိုက်ရသောအခါ၌ ကာရာတာယက်အား ဝိုင်းဝိုင်းလူတစ်ယောက်ဟု ပီယာ ယမန့်နေ့ညက ထင်ခဲ့သော အထင်သည် သွေးထွက်အောင်မှန်လျက် ရှိခြင်းကို တွေ့ရ လေသည်။ ပြင်သစ်ဝတ်ရုံအကျႌကြီးကို ခါးစည်းဝတ်ထား လျက် စစ်သားဆောင်းဦးထုပ်နှင့် လျှော်ဖိနပ်တို့ ဆင် ယင်ထားသည့် ကာရာတာယက်၏ ပုံသဏ္ဌာန်တစ်ခုလုံး သည် ဝိုင်းဝိုင်းကြီး ဖြစ်လျက် ရှိ၏။ ၎င်း၏ခေါင်းကလည်း ပြားပြားဝိုင်းဝိုင်းကြီးဖြစ်၏။ ၎င်း၏ ကျောပြင်၊ ရင်အုပ် နှင့် တကွ တစ်စုံတစ်ခုကို ဆီးကြိုရန် အသင့်ဖြစ်နေသည့် ဟန်ရှိသော ၎င်း၏လက်မောင်းများ အားလုံးတို့သည် ဝိုင်း ဝိုင်းကြီး ဖြစ်၏။

၎င်းပါဝင်တိုက်ခိုက်ခဲ့ဖူးသောတိုက်ပွဲများအကြောင်း ကို စစ်သားဟောင်းကြီးလေသံဖြင့် ပြောပုံကို ထောက်လျက် ကာရာတာယက်မှာ အသက်ငါးဆယ့်ခန့်ရှိလောက်ပေပြီ။ ၎င်းကိုယ်တိုင်မှာကား အသက်မည်မျှရှိပြီကို သိလည်း မသိ။

ခန့်မှန်းခြင်းလည်း မပြုတတ်ချေ။ သို့ရာတွင် ရယ်လိုက် လျှင် စက်ဝိုင်းခြမ်းနှစ်ခု ထပ်ထားသည့်နှယ် (ကာရာတာ ယက်သည် မကြာခဏလည်း ရယ်မောလေ့ရှိ သည်။) အထင်းသား ပေါ်လာကြသည့် ဖြူဖွေးခိုင်မာသော သွားများ မှာ အကောင်းပကတိရှိကြသေးသည်။ ဆံပင်နှင့် မုတ်ဆိတ် တို့တွင် အမွေးအမှင်တစ် ပင်မျှ မဖြူသေး။ ၎င်း၏ခန္ဓာကိုယ် ကလည်း ပျော့ပျော့ပျောင်း အထူးသဖြင့် ကြံ့ခိုင် ဟန်နှင့် အပင်ပန်းခံနိုင်ဟန်ကို ဖော်ပြလျက် ရှိလေသည်။

၎င်း၏မျက်နှာပေါ်တွင်မူ အရေးများ ထင်စပြုလေ ပြီ။ သို့တိုင်အောင် သူ့ မျက်နှာသည် နုနယ်ပျိုမျစ်ခြင်းနှင့် သဘောဖြူ အူစင်းရှိခြင်းတို့ကို ဖော်ပြလျက်ရှိ လေသည်။ ၎င်း၏အသံသည် ချိုသာ၍ နားထောင်ကောင်းသော အသံ မျိုးဖြစ်၏။. စကားပြောလျှင် ပွင့်လင်း၍ အချက်ကျကျ ပြောတတ်သည်။ ကာရာတာယက် သည် မိမိ မည်သည့် စကားကို ပြောခဲ့သည်ဟုလည်း မှတ်မိပုံမရ။ မည်သည့် စကားကို ပြောအံ့ဟုလည်း ကြိုတင်စဉ်းစားဟန် မရှိချေ။ ၎င်း၏ လေယူလေသိမ်း သံတက်သံကျတို့သည် မြန်လည်း မြန် နားထောင်၍ မငြီးနိုင်အောင်လည်း ရှိ ပါသည်။

အဖမ်းခံရပြီး ခပ်စောစောရက်များ၌ ကရာတာ ယက်၏ ကြံ့ခိုင်တောင့်တင်း ပုံ၊ ဖျတ်လတ်သွက်လက်ပုံ ကား အံ့သြစရာပင် ကောင်းတော့သည်။ မကျန်းမာ ခြင်း နှင့် မောပန်းနွမ်းနယ်ခြင်း စသည်တို့ကို နားမလည်ပါလေ စဟုပင် ထင်ရ တော့သည် ညပိုင်း အိပ်ရာဝင်ခါနီးလောက် ဆိုလျှင် ကာရာတာယက်သည် ဘုရားရှိခိုးကာ "ဘုရား သခင်ကိုယ်တော်မြတ်ကြီးဘုရား၊ တပည့်တော်အား ည တွင် ကျောက်တုံးကြီးလို လေးလေးကြီးအိပ်ပျော်ပြီး မနက်တွင် ပေါင်မုန့်လေးလို ပေါ့ပါးနေအောင် မှိုင်းမတော်မူပါဘုရား" ဟု ဆုတောင်းလေ့ရှိပြီး နံနက်လင်း၍ နိုး လာနှင့် "ကျုပ် တော့ ခွေလဲအိပ်လိုက်ပြီး ခါထလာတာပဲဗျ"ဟု ပြော လှရှိသည်။ ၎င်းပြောသည့်အတိုင်းလည်း မှန်ပါသည်။ ကာရာတာယက်သည် လှဲချလိုက်

သည်နှင့် ကျောက်တုံး ကြီးကဲ့သို့ တုတ်တုတ်မျှ မလှုပ်ဘဲ အိပ်ပျော်သွားသည် သာ ဖြစ်လေသည်။ ကလေးငယ်များသည် အိပ်ရာမှ နိုး လာသည်နှင့် တစ်ပြိုင်နက် တည်း ဆော့ရန် အဆင်သင့် ဖြစ်နေကြသကဲ့သို့ ကာရာတာယက်သည်လည်း အိပ်ရာ မှ လှုပ်ခါထလာသည်နှင့် တစ်ပြိုက်နက် ချက်ချင်း အလုပ်တစ်ခုခုကို ကောက်လုပ်တတ်သည်သာ ဖြစ်လေ သည်။ ကာရာတာယက်သည် စပ်စပ်စပ်စပ် အကုန်လုပ် တတ်သည်။ အကောင်းကြီး မဟုတ်သည့်တိုင်း အဆိုးကြီး  လည်း မဟုတ်။ ကာရာတာယက်သည် ပေါင်မုန့်လည်းဖုတ် တတ်၏။ ဟင်းလည်း ချက် တတ်၏။ အချုပ်အလုပ်လည်း တတ်၏။ လက်သမားလည်း တတ်၏။ ဖိနပ်လည်း ချုပ် တတ်သေးသည်။ ၎င်းကိုကြည့်လျှင် အမြဲတမ်း အလုပ်များ လျက်ရှိလေ သည်။ ညကျမှသာလျှင် (၎င်းနှစ်သက်သော) စကားပြောခြင်း သီချင်းဆိုခြင်း စသည်တို့အတွက် အလှည့် ပေးသည်။ သို့ရာတွင် ကာရာတာယက်သီချင်းဆိုပုံမှာ မိမိ အသံကို လူတွေက ဝိုင်းနားထောင်လိမ့်မည်ဟု သိနေသော အဆိုတော်တစ် ယောက်၏ ဆိုပုံမျိုးမဟုတ်ဘဲ ငှက်ကလေး များ ဘာသာဘာဝ တေးဆိုသကဲ့သို့ ၎င်းအလိုအလျောက် ဆိုခြင်းမျိုးသာဖြစ်လေသည်။ လူတစ်ယောက်သည်ညောင်း ညာသောအခါ၌ ခြေဆန့်လက်ဆန့်ပြုခြင်း၊ လမ်းလျှောက် ခြင်းစသည်တို့ကို ပြု သကဲ့သို့ ကာရာတာယက်သည်လည်း ငြီးငွေ့လာသောအခါ၌ ၎င်း၏ ငြီးငွေ့ မှုကို ပြေပျောက်စေ ရန် သီဆိုခြင်းသာဖြစ်လေသည်။ ၎င်းသီဆိုသည့် သီချင်း များမှာ အများအားဖြင့် လှိုက်လှိုက်လှဲလှဲဆိုရသော သီချင်း များသာဖြစ်သည်။ ထိုအချိန် မျိုး၌ ၎င်း၏မျက်နှာသည် လေးနက်သောအသွင်ကို ဆောင်လျက်ရှိတတ်သည်။

ကာရာတာယက်သည် အဖမ်းခံရကတည်းက ( မုတ်ဆိတ်ရိတ်ခြင်း မပြု တော့ဘဲ အရှည်ထားလိုက်လေပြီ။ မိမိ၏ ပင်ကိုစရိုက်နှင့် အပ်စပ်ခြင်း မရှိဘဲ မလွဲ မရှောင် သာ ကျင့်သုံးနေရသည့် စစ်သားအလေ့အကျင့်၊ အပြော အဆိုအနေ အထိုင်အားလုံးကိုလည်း စွန့်လွှတ်လိုက်လေပြီ။ အချုပ်ထဲရောက်ကတည်းက ကာ

ရာတာယက်သည် ၎င်း၏လယ်သမားစရိုက်တိုင်း ပြန်လည်နေထိုင်ခြင်း ပြု ခဲ့လေသည်။

"တပ်ပြန်ရင် စစ်သား၊ အိပ်ပြန်ရင် လယ်သမား ပေါ့ဗျာ"ဟု ကာရာတာယက်က ပြောလေ့ရှိသည်။

ကာရာတာယက်သည် ၎င်း၏ စစ်သားဘဝ အကြောင်းကို ပြောလိုစိတ်ရှိဟန်မတူ လှချေ။ သို့ရာတွင် စစ်သားဘဝကို စိတ်ပျက်ညည်းညူခြင်းလည်းမရှိ။ မိမိ စစ်မှုထမ်းဘဝတွင် တစ်ခါမျှ အရိုက်မခံဖူးကြောင်းကို ကား မကြာခဏ ပြောပြလေ့ရှိ၏။ ကာရာတာယက်သည် ၎င်းမိဘများ၏ လယ်သမားအလုပ်ကို "ဘုရားကြိုက်၊ နတ်ကြိုက်" အလုပ်ဟု ဆိုကာ လယ်သမားဘဝအကြောင်း ကိုကား စိတ်ပါလက်ပါ ပြောပြတတ်သည်။ ကာရာတာ ယက်သည် စကားပြောလျှင် စကားပုံကလေးများ ညှပ်၍ ပြောလေ့ရှိ၏ သို့ရာတွင် ၎င်း၏စကားပုံများမှာ စစ်သား များ ပြောလေ့ရှိသော ညစ်ညမ်းရိုင်းစိုင်းသည့်စကားပုံများ မဟုတ်ချေ။ လယ်သမားများ ပြောလေ့ရှိသည့် စကားပုံ များ ဖြစ်၍ စကားချည်း သီးခြားကြည့်လျှင် ဘာမျှအဓိပ္ပာယ် မရှိ ထင်ရသော်လည်း သူ့နေရာနှင့်သူ ဆီလျော်အောင် သုံးလိုက်သည့်အခါတွင်မူ အလွန်လေးနက်သော အဓိပ္ပာယ် ကို ဆောင်လာကြလေသည်။

ကာရာတာယက်သည် ၎င်းပြောသည့်စကားကို မည်သည့်အခါမျှ မမှတ်မိချေ။ တစ်နေ့က စကားတစ်မျိုး ပြောထား၍ နောက်တစ်နေ့တွင် ထိုစကားနှင့် ပြောင်းပြန် ပြောလာပြောတတ်သည်။ သို့ရာတွင် အားလုံး သူ့ အကြောင်းပြချက်နှင့် သူ အမှန်ချည်းသာ ဖြစ်လေသည်။ ကာရာတာယက်သည် စကားလည်း အလွန်ပြောသည်။ ပြောလျှင်လည်း ပုံတိုပတ်စလေးတွေ၊ စကားပုံကလေး တွေနှင့် ဝေဝေဆာဆာ ပြောတတ်လေရာ စကားပုံကလေး များကို သူ့ဘာသာ တီထွင်၍

ပြောလေသလောဟုပင် ပီယာထင်မိသေး၏။ သို့ရာတွင် ကာရာတာယက် စကား ပြောကောင်းဖြစ်ရခြင်း၏ အဓိကအကြောင်းအရင်းမှာ အလွန်ရိုးလှသော အဖြစ်အပျက်များ(ရိုးလွန်းသည့်အတွက် ပီယာကိုယ်တိုင် တွေ့ကြုံနေရ သော်လည်း စကားထဲထည့် ပြောလောက်သည်ဟုပင် မထင်မိပါ) ကို နားထောင် ချင် စဖွယ်ဖြစ်အောင် ပြောတတ်ခြင်းပင် ဖြစ်လေသည်။ ကာရာတာယက်သည် ညနေတိုင်း စစ်သားတစ်ယောက် ပြောပြတတ်သော ပုံတိုပတ်စကလေးများ နားထောင်ရခြင်း ကိုလည်း သဘောကျသည်။ (အမှန်အားဖြင့် ပုံတိုပတ်စ များမှာ မည်းပြာပုဆိုးချည်း ဖြစ်ပါသည်) ၎င်းအနှစ်သက် ဆုံးကား ဘ၀တွင် တကယ် ကြုံတွေ့ရသည့် အဖြစ်အပျက် များပင် ဖြစ်သည်။ ဤအရာမျိုးကို နားထောင်ရ မည်ဆိုလျှင် စားရသောက်ရမှန်းမသိ တပြုံးပြုံးနှင့် ဖြစ်နေသည်။ တစ်ခါ တစ်ရံ တွင်လည်း ရှင်းရှင်းလင်းလင်း ရှိပါလျက်နှင့် အဖြစ် အပျက်၏ သဘာ၀ယုတ္တိကို ပေါ်လွင်စေလိုသည့်နှယ် မေး ခွန်းများမေးခြင်း၊ ၀င်ထောက်ခြင်း စသည်တို့ကို ပြုလုပ် တတ်သည်။ ကာရာတာယက်၌ တွယ်တာမှုဟူ၍လည်း ရှိဟန်မတူ၊ ရင်းနှီး မှုဟူ၍လည်း ရှိဟန်မတူ။ ပီယာ နား လည်ထားသော ချစ်ခင်မှုမျိုး ဟူ၍လည်း ရှိ ဟန်မတူ  ချေ။ သို့ရာတွင် မိမိနှင့် ပတ်သက်လာသမျှကိုကား ချစ် ခင်တတ်သည်။ အကျွမ်းတ၀င် ဆက်ဆံခြင်းပြုသည်။ မည်သူ့ကိုမျှ ထူး၍ ချစ်ခင်ရင်းနှီးခြင်းမရှိ။ တွေ့သမျှ လူတိုင်းကို ချစ်ခင်ရင်းနှီးစွာ ဆက်ဆံလေ့ရှိသည်။ ကာရာ တာယက် သည် ၎င်း၏ခွေးငယ်ကိုလည်း ချစ်သည်။ ရဲဘော် များကိုလည်း ချစ်သည်။ ပြင် သစ်စစ်သားကိုလည်း ချစ် သည်။ မိမိ၏ အိပ်ရာနီးချင်း ပီယာကိုလည်း ချစ်သည်။ သို့ရာတွင် ကာရာတာယက်သည် ပီယာအား မည်မျှ ခင်မင်ရင်းနှီးစေကာမူ (၎င်း၏ခင်မင်မှုကြောင့် ပီယာအဖို့ စိတ်သက်သာရာရက လောကကြီးတွင် နေ ပျော်ထိုင်ပျော် ဖြစ်လာသည်မှာကား အမှန်ပင် ဖြစ်ပါသည်။) အကြောင်း ကြောင်း ကြောင့် ကွဲသွားကြလျှင်လည်း နည်းနည်းလေးမျှ ၀မ်းနည်းမည့် လူစားမျိုးမဟုတ်

ဟု ပီယာ ထင်မိသည်။ ပီယာကလည်း ကာရာတာယက်နှင့် ပတ်သက်လာလျှင် ထိုနည်းအတူပင် ဖြစ်ပေသည်။

အခြား အကျဉ်းသားများအမြင်၌ကား ကာရာတာ ယက်သည် သူလိုကိုယ်လို လူစားသာ ဖြစ်၏။ ၎င်းတို့ သည် ကာရာတာယက်ကို “ဂျိုးသိမ်း” ဟု ခေါ်ကြ၏။ နောက်ပြောင်ကျီစယ်ခြင်း ပြုကြ၏။ ခိုင်းစရာရှိလျှင် ခိုင်း ကြ၏။ သို့ရာတွင် ပီယာ့ အဖို့သော်ကား ကာရာတာ ယက်သည် မိမိရောက်စ ပထမညတွင် တွေ့ရသော နား လည်ရခက်သည့် ပုပုဝိုင်းဝိုင်းလူ၊ ရိုးသားခြင်းနှင့် မှန် ကန်ခြင်းတို့ကို ကိုယ်စား ပြုသူအဖြစ်သာ စွဲကျန်ရစ်ခဲ့လေ သည်။

ကာရာတာယက်သည် ဘုရားရှိခိုးမှလွဲ၍ အခြား ဘာကိုမျှလည်း နှုတ်တိုက် မရချေ။ စကားပြောလျှင်လည်း မည်သို့ နိဂုံးချုပ်ရမည်ကို နားမလည်ချေ။

တစ်ခါတစ်ရံတွင် ပီယာက ၎င်း၏ စကားများ ကို သဘောကျသဖြင့် ထပ် အပြောခိုင်းတတ်သည်။ သို့ရာ တွင် ကာရာတာယက်ကား ခပ်စောစောက ၎င်း ပြောခဲ့သည့် စကားကို မမှတ်မိတော့ပြီ။ ကာရာတာယက်သည် ၎င်း၏ အသည်းစွဲ သီချင်းစာသားများကိုရသော်လည်း စာသား ချည်း အလွတ်ပြောပါဆိုလျှင် မပြော တတ်တော့ချေ။ ထိုသီချင်းများထဲတွင် “မွေးရပ်ဌာနေ” သစ်ဖြူပင်” ဆွေး ရ တော့သည်” ဆိုသော စကားလုံးများ ပါသော်လည်း အသံ မပါဘဲ စာသားချည်း ပြောပါဆိုလျှင် မပြောတတ်တော့  ချေ။ အကြောင်းအရာနှင့် ခွဲပြီး စကားလုံးချည်း ဆိုလျှင် အဓိပ္ပာယ်ကို နားမလည်တော့ချေ။ ၎င်း၏စကား၊ ၎င်း ၏ အမူအရာ ဟူသမျှသည် ၎င်းကိုယ်တိုင် နားလည်နိုင်ခြင်း မရှိသော ဘဝတည်းဟူသော လှုပ်ရှားမှုနှင့် ကင်းလျှင် ဘာမျှ အဓိပ္ပာယ်မရှိတော့ချေ။ သို့ရာတွင် ၎င်း၏ ဘဝ သည်လည်း အခြားအရာများနှင့် ကင်းလျှင် အဓိပ္ပာယ် ရှိသည်ဟု မထင်မိချေ။ ၎င်း၏ ဘဝသည်အခြားအရာ များနှင့် ဆက်စပ်နေခြင်းကြောင့်သာ အဓိပ္ပာယ်ကိုရှိ

သည် ဟု ကာရာတာယက် ယူဆသည်။ သင်းပျံ့သောရနံ့သည် ပန်းပွင့်မှ ပေါ်ထွက်လာသကဲ့သို့ ၎င်းထံမှ အလိုအလျောက် မှန်မှန်ကြီး ပေါ်ထွက်လာခြင်း ဖြစ်လေသည်။ ပတ်ဝန်း ကျင်အရာများနှင့် တစ်ပြိုင်နက် စကားလုံးတစ်လုံး သို့ မဟုတ် အလုပ်တစ်ခုတို့သည် ကာရာတာယက်အဖို့ အရေး မကြီးတော့ပြီး တန်ဖိုးမရှိတော့ပြီ။

# အခန်း ၁၄

ယာရိုစလာဗာ၌ မြို့စားကြီး ရော့စတော့ဗ်တို့နှင့် အတူ မောင်တော်မင်းသားကလေး အင်ဒရေရှိနေသည်ဟု နီကို လေထံမှ ကြားရသောအခါတွင် မင်းသမီးကလေးမေရီ သည် ၎င်းထံလိုက်သွားရန် ချက်ချင်းပြင်ဆင်လျက် ရှိ လေသည်။ တူတော် "ဘိုးအေချစ်" မင်းသားလေးကို ခေါ်ဆောင်ခြင်း မပြုရန် ၎င်းကိုယ်တိုင်လည်း မသွားရန် အရီးတော်က အတန်တန်တားမြစ်သော်လည်း မရချေ။ သွားရေးလာရေးကိစ္စ လွယ်ကူခြင်းရှိ မရှိ၊ ဖြစ်နိုင် မဖြစ် နိုင်ကိုလည်း မေးမြန်းခြင်းမပြု၊ သိလည်း မသိလိုတော့ချေ။ မင်းသားကလေးအင်ဒရေသည် အချိန်မရွေး ဆုံးပါးနိုင်သည် မဟုတ်လော၊ ဤအချိန်တွင် ပြုစုစောင့်ရှောက်ရန် မိမိ၌ ဝတ္တရားရှိသည် မဟုတ်လော။ ထိုမျှမက ၎င်း၏ သားငယ်ကို ခေါ်ဆောင်သွားရန်လည်း မိမိ၌ ဝတ္တရားရှိ သည်မဟုတ်လော။ ထို့ကြောင့် မင်းသမီးလေးမေရီသည် ခရီးထွက်ရန် ပြင်ဆင်ခြင်း ဖြစ်သည်။ မင်းသားကလေး အင်ဒရေထံမှ ကျိုးကြောင်း တစ်စုံတစ်ရာ အကြောင်းကြား ချက် မရခြင်းမှာ စာမရေးနိုင်လောက်အောင် အခြေအနေ ဆိုးရွားနေ၍သော်လည်း ဖြစ်ရမည်။ သို့မဟုတ် မိမိနှင့် ၎င်း၏ သားငယ်တို့အဖို့ ဤခရီးရှည်ကြီးသည် ခက်ခဲ ကြမ်းတမ်း၍ အန္တရာယ်များလှသည်ဟု ယူဆ၍သော် လည်း ဖြစ်ရမည်ဟု သမင်းသမီးလေးမေရီ တွက်လိုက်မိ သည်။

ရက်အနည်းငယ်အတွင်း၌ မင်းသမီးလေးမေရီ သည် ခရီးထွက်ရန် ပြင်ဆင်ပြီးလေပြီ။ ၎င်း၏ ယာဉ်များ မှာ ဗိုရိုနက်ဇ်မြို့ကလေးသို့ လာခဲ့စဉ်က စီးနင်းလိုက်ပါ လာသည့် မိသားစုသုံး ကရထားကြီးတစ်စင်း ပေါင်းမိုး အဝတ်လှန်းထားသည့် ဘုံပြုတ်တစ်စင်းနှင့် ဝန်တင်လှည်း တစ်စီးတို့ ဖြစ်ကြ၏။ ၎င်းနှင့်အတူ လိုက်ပါမည့်သူများမှာ ပြင်သစ်သူဘုရင်၊ တူတော်မောင် "ဘိုးအချစ်" မင်းသားလေးနှင့် ၎င်း၏ စာပြဆရာ၊ မိမိအား ငယ်စဉ်ကထိန်းခဲ့ သော နို့ထိန်းသည်အဘွားကြီး၊ အစေတော် မိန်းမသုံး ယောက်၊ ကျွန်ယုံကြီး တီကွန်၊ အဆောင်ကိုင်တစ်ယောက် နှင့် အရီးတော်က လိုလိုမယ်မယ် ထည့်လိုက်သော ဆက် သားတစ်ယောက်တို့ ဖြစ်ကြသည်။

သွားရိုးသွားစဉ်လမ်းအတိုင်း သွားမည်ဆိုလျှင် မော်စကိုမြို့ကို ဖြတ်သွားရမည် ဖြစ်၏။ သို့ရာတွင် ထိုလမ်းကို စဉ်းစား၍ မဖြစ်ချေ။ မင်းသမီးလေးမေရီ သွားရမည့်ခရီးမှာ လီပက်၊ ရာဇန်၊ ဗလာဒီမာ၊ ရှုယာတို့ ကို ဖြတ်သွားရမည့် ရီးရှည်ကြီးဖြစ်သည်။ ထိုခရီးမှာ မြင်းထောက်များ ငှားရန် မလွယ်ကူရုံမျှမက ရာဇန် အနီးတွင် ပြင်သစ်တပ်များ ရောက်နေပြီဟု ကြားနေရသည့် အတွက်ကြောင့်လည်း အလွန်အန္တရာယ်များလှသည်။ သို့ရာတွင် ထိုလမ်းမှလွဲ၍ အခြားလမ်းမရှိတော့ပြီ။

ဤမျှခက်ခဲသော ခရီးကြမ်းကြီး၌ ပြင်သစ်သူ ဘုရင် စာပြဆရာ ဒီဆေးလ်နှင့် အစေတော်များသည် မင်းသမီးလေးမေရီ၏ အပင်ပန်းခံနိုင်ရည်ရှိမှုနှင့် စိတ်ဓာတ် ကြံ့ခိုင်မှုကို အံ့သြလျက် ရှိကြလေသည်။ ခရီးတစ်လျှောက် လုံးတွင် မင်းသမီးလေးမေရီသည် အခြားသူများထက် နောက်ကျမှ အိပ်ရာဝင်၍ စောစီးစွာ ထ၏။ မည်သည့် အခက်အခဲကိုမျှ အမှုထားဟန် မရှိချေ။ ၎င်း၏ စိတ် အားထက်သန်မှုနှင့် ပင်ပန်းခံနိုင်မှုသည် အခြားသူများသို့ ကူးစက်လာခဲ့လေရာ ၎င်းတို့သည် ခရီးထွက်၍ ဒုတိယ ရက်သတ္တပတ်အကုန်၌ ရိုစလာဗာအနီးသို့ ရောက်လာ ခဲ့ကြသည်။

မိုရိုနက်ဇ်တွင် နောက်ဆုံးနေခဲ့သည့်ရက်များကား မင်းသမီးလေးမေရီ၏ဘဝတွင် အပျော်ဆုံးနေ့များ ဖြစ်ကြ ၏။ နီကိုလေအပေါ်တွင် ထားရှိခဲ့မိသော အချစ်သည် ၎င်းအား စိတ်လှုပ်ရှားခြင်း၊ စိတ်ဆင်းရဲခြင်းကို မဖြစ်စေနိုင် တော့ပြီ။ ယခုအချိန်၌ ထိုအချစ်သည် မင်းသမီးလေး မေရီ၏ ဝိညာဉ်တစ်ခုလုံးကို လွှမ်းခြုံသွားခဲ့လေပြီ။ ၎င်း ၏ ခန္ဓာကိုယ်အစိတ်အပိုင်းတစ်ခု ဖြစ်ခဲ့လေပြီ။ နီကိုလေကို ချစ်ရအံ့လော။ မချစ်ဘဲ နေရအံ့လောဟု ဒွိဟဖြစ်စရာ မလိုတော့ပြီ။ မိမိကိုယ်ကို စကားဖြင့် ထုတ်ဖော်ပြော ဆိုခြင်း မပြုဖူးသေးသော်လည်း မိမိသည် နီကိုလေအား ချစ်၍ နီကိုလေကလည်း မိမိကိုချစ်သည်ဟု မင်းသမီးလေး မေရီ မကြာမီက တစ်ထစ်ချယုံမှတ်လိုက်လေပြီ။

မင်းသားကလေး အင်ဒရေသည် မိမိ၏ဖခင် မိသားစုနှင့် အတူရှိနေသည်ဟု နီကိုလေ နောက်ဆုံးအကြိမ် တွေ့ဆုံလာရောက် ပြောဆိုစဉ်ကတည်းက မင်းသမီးကလေး မေရီသည် ထိုသို့ ယူဆခဲ့ခြင်း ဖြစ်လေသည်။ အကယ်၍ မင်းသားကလေး အင်ဒရေ ကျန်းမာလာပါက ၎င်းနှင့် နာတာရှာတို့၏ ဆက်ဆံရေးသည် အသစ်တစ်ဖန် ပြန်ဖြစ်လာနိုင်ကြောင်းကို နီကိုလေသည် ထိုစဉ်က တစ်စွန်း တစ်စမျှ လေသံမဟခဲ့သော်လည်း ထိုပြဿနာသည် နီကိုလေ၏ ခေါင်းထဲသို့ ဝင်ရောက်လျက် ရှိပြီ ဆိုသည့် အချက်ကိုကား ၎င်း၏မျက်နှာရိပ် မျက်နှာကဲကို ကြည့်၍ မင်းသမီးကလေး မေရီသိခဲ့လေပြီ။

သို့ ထိုပြဿနာကို စဉ်းစားလျက် ရှိသည့်တိုင် မိမိအပေါ်တွင် ထားရှိသော နီကိုလေ၏ နူးညံ့၍ချစ်ခင် ကြင်နာသည့် ဆက်ဆံရေးမှာ ပြောင်းလဲသွားခြင်း မရှိချေ။ ထိုမျှကမ မိမိအိမ်သားစုနှစ်စု၏ ဤသို့သော ဆက် ဆံရေးမျိုး (မင်းသားကလေးအင်ဒရေနှင့် နာတာရှာ လို့ ကြောင့် မိမိတို့နှစ်ဦးကိစ္စကို ဘေးဖယ်ထားရသော အခြေ အနေမျိုး) ကြောင့် မင်းသမီးကလေးမေရီနှင့် မိတ်ဆွေ သဖွယ် နီကိုလေမှာ လွတ်လွတ်လပ်လပ် ဆက်ဆံနိုင် လေပြီ။ မလုံမလဲဖြစ်စရာမလိုတော့ပြီဟု

နီကိုလေတစ် ယောက် ဝမ်းမြောက်ဝမ်းသာဖြစ်နေသည်ဟုပင် မင်းသမီး ကလေး မေရီ တစ်ခါတစ်ရံ ထင်မိသေးသည်။ မိမိသည် တစ်သက်တွင် ပထမဆုံးအကြိမ် လူတစ်ယောက်ကို ချစ် ခဲ့လေပြီ။ လူတစ်ယောက်၏ အချစ်ကို ခံခဲ့ရလေပြီဟု မင်းသမီးကလေးမေရီ ယူဆပါသည်။ ထို့ကြောင့် နီကို  လေနှင့် မိမိတို့နှစ်ဦး၏ ဆက်ဆံရေးနှင့် ပတ်သက်၍ ( မင်းသမီးလေး မေရီတွင် ကြည်နူးခြင်း ဖြစ်ရ ပါသည်။

သို့ရာတွင် တစ်ဖက်က ဤသို့ကြည်နူးခြင်း ဖြစ် ရသော်လည်း အခြား တစ်ဖက်တွင်မူ မိမိ၏ မောင်တော် မင်းသားကလေးအင်ဒရေအတွက် ပူဆွေး သောက ဖြစ်ရ ပြန်သည်။ တစ်ဖက်က ကြည်နူးမှုသည် ထုကြီးထည်ကြီး ဖြင့် ရှိနေ သော အခြားတစ်ဖက်က သောကကို ဟန့်တား ခြင်း မပြုနိုင်ချေ။ ဟန့်တားခြင်း မ ပြုနိုင်ရုံမျှမက ဤ သို့ တစ်ဖက်တွင် စိတ်၏ငြိမ်သက်မှုကို ရခြင်းသည်ပင်လျှင် မောင်တော်မင်းသားကလေးအင်အရေအတွက် ဖြစ်ရသော သောကကို လွတ်လပ် ကြီးထွားနိုင်ရန် နေရာပေးသကဲ့သို့ ဖြစ်နေသေးသည်။ ဗိုရိုနက်ဇ်မှ ထွက်ခွာခြင်း မ ပြုမီ မောင် တော်မင်းသားကလေး အင်အရေအတွက် ပူဆွေးသောက ရောက် လိုက်ပုံမှာ ဆိုဖွယ်ပင် မရှိတော့ချေ။ ခရီးထွက်ခါ နီးတွင် မင်းသမီးလေမေရီကို လာရောက်နှုတ်ဆက်သူ တိုင်းကပင် ၎င်း၏ ညှိုးငယ်ပူဆွေး လျက်ရှိသော မျက်နှာ ကို ကြည့်၍ မင်းသမီးလေးမေရီ မှာ လမ်းတွင်ပင် ဗုန်းဗုန်းလဲ လိမ့်မည်ဟု ထင် ကြ၏။ သို့ရာတွင် မင်းသမီးကလေး မေရီဖြတ်သန်းခဲ့သော ထို ခရီး၏ ကြမ်းတမ်း ခက်ခဲမှုသည် ၎င်းအား အခိုက်အတန့် သောက ကင်းဝေးစေ၍ ခွန်အား သတ္တိကို ပေးခဲ့သည်သာ ဖြစ်လေသည်။

ခရီးသွားလျက်ရှိစဉ် တွေ့ကြုံစမြဲ ဖြစ်သည့်အတိုင်း မင်းသမီးကလေးမေရီ သည် ရည်မှန်းချက်ပန်းတိုင်ကို မေ့ လျော့ကာ ခရီးလမ်းပန်းအကြောင်းကိုသာ တွေးလျက် ရှိ၏။ သို့ရာတွင် ယာရိုစလာဗာအနီးသို့ ချဉ်းကပ်လာသော အခါ၌ကား

ယာရိုစလာဗာတွင် မည်သည့် အခြင်းအရာမျိုး များကို ကြုံပတွေ့ရမည်နည်း ဟူသော အတွေးသည် မင်း သမီးကလေးမေရီ၏ ခေါင်းထဲသို့ ဝင်ရောက်လာလေပြီ။ ထိုသည်နှင့်အမျှ ၎င်း၏ စိတ်လှုပ်ရှားမှုသည်လည်း အဆုံး စွန်သို့ ရောက်လာလေပြီ။ (ဤအတွေးသည် ယာရိုစလာဗာ ( သို့ ရောက်ခါနီး ညနေကျမှ ပေါ်လာခြင်း ဖြစ်ပါသည်။) မြို့စားကြီး ရော့စတော့ဗ်တို့ မည်သည့်ရပ်ကွက် တွင် နေထိုင်လျက်ရှိကြောင်း၊ မင်းသားကလေး အင်ဒရေ ၏ အခြေအနေ မည်သို့ရှိကြောင်း စသည်တို့ကို စုံစမ်း ရန် ယာရိုစလာဗာသို့ ကြိုတင်စေလွှတ်ထားသည့် ဆက် သားသည် မင်းသမီးလေးမေရီ၏ ကြီးကျယ်ခံ့ညားလှသော  ကရထားကြီးနှင့် မြို့တံခါးတွင် ဆုံကြ၍ ရထားပြတင်းမှ ပြူထွက်ကာ မိမိကို လှမ်းကြည့်လျက်ရှိသော မင်းသမီး ကလေးမေရီ၏ မျက်နှာကို မြင်လိုက်ရသောအခါ၌ အကြီး အကျယ် ထိတ်လန့်တုန်လှုပ်သွားသည်။ မင်းသမီးကလေး မေရီ၏ မျက်နှာမှာ ကြောက်စရာကောင်းလောက်အောင် ဖြူရော်လျက် ရှိလေပြီ။

"အားလုံး စုံစမ်းပြီးခဲ့ပါပြီ ထိပ်ထား။ မြို့စားကြီး ရော့စတော့ဗ်တို့ မိသားစုလဲ ပန်းခြံနားက ကုန်သည် ဘရွှန် နီကော့ရဲ့ စံအိမ်ကြီးမှာ တည်းနေကြပါတယ်။ ဒီနေရာက ဆိုရင် သိပ်မဝေးတော့ပါဘူး။ ဗော်လဂါမြစ်ကမ်းနဖူးမှာပါ" ဆက်သားက ပြော၏။

မင်းသမီးကလေးမေရီသည် ဆက်သားကို ထိတ် လန့်စူးစမ်းသော အကြည့်ဖြင့် ကြည့်လိုက်သည်။ မိမိ အဓိက သိလိုသောအချက်မှာ မောင်တော် မင်းသားကလေး အင်ဒရေ၏ ကျန်းမာရေးအခြေအနေဖြစ်သည်။ သို့ရာတွင် မိမိအလွန်သိလိုသော ထိုအချက်ကို ဆက်သားသည် မည် သည့် အတွက်ပြောဆိုခြင်း မပြုသနည်း။ ဤအချက်ကို မင်းသမီးကလေးမေရီ နားမလည်နိုင်ချေ။ ပြင်သစ်သူ ဘူးရင်းက ၎င်းအစား ထိုမေးခွန်းကို မေးလိုက်သည်။

“ကိုယ်တော်လေး ဘယ့်နှယ်နေသေးသလဲ”

“ကိုယ်တော်လေးလဲ မြို့စားကြီး ရှော့စတော့ဗ် တို့နဲ့အတူ ရှိနေပါတယ်” ။

“ဟင်၊ ဒီလိုဆို သူမသေသေးဘူးပေါ့နော်” ဟု မင်း သမီးလေးမေရီက တွေးလိုက်ကာ လေသံကလေးဖြင့်

”သူ့အခြေအနေ ဘယ့်နှယ်လဲ”

“အရင်က အတိုင်းပါပဲလို့ ပြောလိုက်ပါတယ် ထိပ်ထား”

“အရင်းကအတိုင်းပါပဲ”ဆိုသည်မှာ မည်သည်ကို ဆိုလိုသနည်း။ မင်းသမီးလေးမေရီသည် ဤသည်ကိုမူ မေးမြန်းခြင်းမပြုတော့ချေ။ မိမိရှေ့တွင် ထိုင်လျက် မြို့ ပတ်ဝန်းကျင်ကို ကြည့်ရှုလိုက်ပါလာသော အသက်ခုနစ်နှစ် အရွယ် တူတော် မော်” ဘိုးအေချစ်” မင်းသားကလေးကို သာ မှတ်တမဲ့ လှမ်းကြည့်ကာ ခေါင်းငိုက်စိုင်ချ၍ လိုက် လာခဲ့မိသည်။ တကျွိကျွိမြည်လျက်၊ လှုပ်ယမ်းလျက်၊ ယိမ်းထိုးလျက် ရှိသော ကရထားကြီး ထိုးရပ်လိုက်သည့် အခါကျမှ ခေါင်းဖော်တော့သည်။ ကရထားမှ ခြေနင်းခုံ များကို ချသံထွက်ပေါ်လာ၏။

ကရထားတံခါးသည် ပွင့်လာ၏။ လက်ဝဲဘက် တွင် ရေပြင်ကြီး (ဗော်လဂါ မြစ်ဖြစ်သည်) နှင့် လက်ယာ ဘက်တွင် ဆင်ဝင်တစ်ဆောင်ကို မြင်ရ၏။ အိမ်တံခါး ဝတွင် လူများစုပြုံနေသည်ကို မြင်ရ၏။ ၎င်းတို့မှာ အစေခံ များနှင့် ကျစ်ဆံမြီးတွဲလောင်းချထားသည့် နှင်းဆီသွေး လွှမ်းနေသော မိန်းမပျိုတစ်ယောက်တို့ ဖြစ်ကြ၏။ ထို မိန်းမပျိုသည် ပြုံးလျက်ရှိရာ ၎င်း၏အပြုံးသည် နှစ်လိုဖွယ် ကင်းမဲ့သော ဟန်ဆောင်ပြုံးလျက် ဖြစ်သည်ဟု မင်းသမီး ကလေးမေရီ ထင်လိုက်မိသည်။ ၎င်းမှာဆွန်ယာ ဖြစ် သည်။) မင်းသမီးကလေးမေရီသည် လှေကားထစ်များကို တက်လာခဲ့သည်။ “ဒီဘက်ကိုကြွပါ။ ဒီဘက်” ဟု ထို - မိန်းမ

ပျိုက ခပ်စောစောက ဟန်ဆောင်ပြုံးမျိုးဖြင့် ဆို၏။ ခန်းဆောင်ထဲသို့ ရောက် သည်နှင့် စိတ်လှုပ်ရှားလျက်ရှိ သော အမူအရာဖြင့် ခပ်သုတ်သုတ်ထွက်လာသော အရှေ့ တိုင်းဆံဆံ အမျိုးသမီးကြီးတစ်ဦးနှင့် ပက်ပင်းတိုးမိကြ သည်။ ၎င်းမှာ မြို့စားကတော်ကြီးပေတည်း။ မြို့စား ကတော်ကြီးသည် မင်းသမီးကလေး မေရီ ကို ပွေ့ဖက်နမ်း ရှုပ်ခြင်းပြု၍ ပြင်သစ်စကားဖြင့် နှုတ်ဆက်ခြင်း ပြု၏။

"မေဖျားသမီးလေးရယ်။ မေဖျားဖြင့် မျှော်လိုက် ရတာ"

မင်းသမီးလေးမေရီသည် စိတ်လှုပ်ရှားလျက်ရှိ သော်လည်း မြို့စားကတော် ကြီးမှန်း သိလိုက်၏။ ပဋိသန္ဓာ ရ စကားဆိုရန် လိုအပ်ခြင်းကိုလည်း သိလိုက်၏။ မင်းသမီး ကလေးမေရီသည် မိမိအားနှုတ်ဆက်သော ပြင်သစ်လေ သံမျိုးဖြင့် ကြိုးစား၍ ယဉ်ကျေးသိမ်မွေ့စွာ နှုတ်ဆက် သော်လည်း စကားလုံးများ မည်သို့ ထွက်သွားသည်ကို မသိချေ။ ထို့နောက် မင်းသားကလေးအင်ခရေ၏ အခြေ အနေ ကို မေးမြန်း၏။

"သိပ်မစိုးရိမ်ရတော့ဘူးလို့ သမားတော်ကြီးများ က ပြောပါတယ်" မြို့စား ကတော်ကြီးက ဖြေလိုက်သည်။ သို့ရာတွင် စကားပြောရင်း မျက်လုံးကို လှန် ကြည့်လိုက်ပြီး သက်ပြင်းကြီးချလိုက်၏။ ၎င်းအမူအရာသည် စကားများ နှင့် ကိုက်ညီခြင်း မရှိကြောင်းကို ဖော်ပြလျက်ရှိလေသည်။

"ဒါဖြင့် သူဘယ်မှာလဲဟင် အကြီးတော်၊ ထိပ် ထား သူ့ကို တွေ့လိုရမလား" မင်းသမီးလေးမေရီက  မေး၏။

"ခဏလေးနေလိုက်ဦးနော်ထိပ်ထား၊ ခဏလေး။ ဒါက သူ့သားတော်လေး လား"မြို့စားကတော်ကြီးက စာပြ ဆရာဒီဆေးလ်နှင့်အတူ ဝင်ရောက်လာသော "ဘိုးအေး ချစ်" မင်းသားလေးဘက်သို့ လှမ်း၍ မေးလိုက်သည်။ "စံအိမ်ကြီးက

ကျယ်ပါတယ်။ နည်းတဲ့ စံအိမ်ကြီးမဟုတ် ဘူး။ ကြည့်စမ်းကွယ်၊ ဘွားဘွားမြေး လေးက ချစ်စရာ လေး”

မြို့စားကတော်ကြီးသည် မင်းသမီးလေးမေရီကို ဧည့်ခန်းဆောင်ထဲသို့ ခေါ် လာခဲ့လေသည်။ ထိုအထဲ၌ ဆွန်ယာသည် ပြင်သစ်သူဘုရင်းနှင့် စကားလက်ဆုံကျ လျက် ရှိလေသည်။ မြို့စားကတော်ကြီးက “ဘိုးအေးချစ်” မင်းသားကလေးကို တယုတယနှုတ်ဆက်နေစဉ် မြို့စား ကြီး ရှော့စတော့ဗ် ရောက်လာကာ မင်းသမီးလေးမေရီကို နှုတ်ဆက်ပြန်သည်။ မင်းသမီးလေးမေရီ နှင့် မြို့စားကြီး ရှော့စတော့ဗ်တို့ ကွဲကွာသွားခဲ့ကြသည်မှာ ကာလအတန် ကြာခဲ့ပြီ ဖြစ်၏။

ထိုအတောအတွင်း၌ကား မြို့စားကြီးရှော့စတော့ဗ် မှာ အကြီးအကျယ် ပြောင်းလဲသွားခဲ့လေပြီ။ ထိုစဉ်က မြို့စားကြီးရှော့စတော့ဗ်မှာ ဖျတ်လတ် ရွှင်လန်း၍ ကိုယ့် ကိုယ်ကို ကျေနပ်လျက်ရှိသော အဘိုးကြီးတစ်ယောက် ဖြစ်ခဲ့၏။ ယခုမူ သနားစဖွယ် စိတ်ဝမ်းအားငယ်လျက် ရှိသော လူအိုကြီးတစ်ယောက်ဖြစ် လျက် ရှိလေပြီ။ မင်း သမီးလေးမေရီနှင့် စကားစမြည်ပြောဆိုလျက်ရှိစဉ်၌ မိမိ အပြောအဆို အပြုအမူများ မှားများမှားနေသလောဟု မေးမြန်းသည့်ပမာ ဘေး ပတ်ဝန်းကျင်ကို မလုံမလဲလှမ်း ကြည့်တတ်သည်။ မော်စကိုမြို့ကြီး မီးလောင် ပျက်စီး၍ မိမိပစ္စည်းဥစ္စာများ ဆုံးပါခဲ့ကာ မိမိကျင်လည်ကျက်စားရာ သိုက်မြို့ ကလေးမှ လွင့်စဉ်ကျလာခဲ့ပြီးနောက်၌ မြို့စားကြီး ရှော့စတော့ဗ်သည် မိမိကိုယ် မိမိ လူရာဝင်သည်ဟု မထင် တော့ပြီ။ လူ့ဘဝတွင် မိမိအတွက် နေရာရှိသေးသည် ဟု မထင်တော့ပြီ။

မင်းသမီးလေးမေရီသည် မောင်တော် မင်းသား ကလေးအင်ဒရေကို အမြန် ဆုံး တွေ့လိုလျက်ရှိကာ မိမိကို ဧည့်ဝတ်ပြုကြခြင်း၊ တူတော် “ဘိုးအေချစ်”

မင်းသား လေးအား မြတ်နိုးဟန်ဆောင်လျက် ရှိကြခြင်းတို့ကြောင့်  စိတ်ရှုပ်လျက် ရှိသော်လည်း ပတ်ဝန်းကျင် အခြေအနေ တစ်ရပ်လုံးကိုမူ သတိပြုမိလိုက်၏။ မိမိ ဝင်ရောက်လာသော ပတ်ဝန်းကျင်သစ်နှင့် အခိုက်အတန့်အားဖြင့်ဖြစ်စေ လိုက် လျောညီအောင် နေထိုင်ရန် လိုအပ်သည်ဟုလည်း ယူဆ လိုက်သည်။ ရှောင်လွှဲ၍ရတော့မည် မဟုတ်ချေ။ မင်းသမီး လေးမေရိအဖို့ ဤသို့စိတ်မပါ့တပါ ဖြင့် လောကဝတ်ပြု နေရခြင်းကို စိတ်ပျက်သည့်တိုင်း ၎င်းတို့ကိုလည်း အပြစ် မ ဆိုသာပါ။

“ဟောဒါက ဦးရီးတော်ရဲ့ တူမကွယ်” မြို့စား ကြီးက ဆွန်ယာနှင့် မိတ်ဆက် ပေးသည်။“ ထိပ်ထားလေး သူ့ကိုတော့ သိမှာမဟုတ်ဘူးနော်”

မင်းသမီးလေးမေရီသည် ဆွန်ယာဘက်သို့ လှည့် ကာ မိမိရင်ထဲတွင် အလုံး လိုက်တက်လာသော မနာလို စိတ်၊ မုန်းတီးစိတ်တို့ကို မျိုသိပ်ရင်း ဆွန်ယာကို နမ်းရှုပ် နှုတ်ဆက်လိုက်သည်။ နှုတ်ဆက်၍သာဆက်ရသော်လည်း မိမိနှင့် ၎င်းတို့ စိတ်သဘောထားချင်း ကွဲပြားခြားနား လျက်ရှိခြင်းကြောင့် စိတ်ပျက်လျက် ရှိလေ ပြီ။

“ခု သူဘယ်မလဲဟင်” မင်းသမီးလေးမေရိက ၎င်း တို့ အားလုံးဘက်သို့ လှမ်းမေးလိုက်၏။

“အောက်ထပ်ခန်းဆောင်ထဲမှာပါ။ နာတာရှာလဲ ရှိပါတယ်” ဆွန်ယာက မျက်နှာနီရဲလျက် ပြော၏။“ခုပဲ အောက်ထပ်ကို အပြောလွှတ်လိုက်ပါပြီး ထိပ်ထား လဲ ခရီးပန်းလာပြီလို့ ထင်ပါတယ်” ။

ဝေခွဲမရခြင်းကြောင့် ဖြစ်သော မျက်ရည်တို့သည် မင်းသာမီးလေးမေရီ၏ မျက်လုံးတွင် ဝဲလာကြသည် မျက်နှာလို လွှဲလိုက်ပြီးနောက် အောက်ထပ်ခန်း

ဆောင်သို့ မည်သို့ သွားရမည်နည်းဟု မြို့စားကတော်ကြီးအား မေးမည်အပြုတွင် ပေါ့ပါးဖျတ်လတ်ဟန်ရှိက ရေးကြီး သုတ်ပျား လျှောက်လာသော ခြေသံများကို တံခါးဝဆီမှ ကြားလိုက်သည်တွင် ခပ်သုတ်သုတ်ပြေးလာသော နာတာ ရှာ၊ မော်စကိုတွင် တစ်ခါတွေ့ခဲ့စဉ်က မိမိ များစွာနှစ် သက်လှခြင်းမရှိသော နာတာရှာကို မြင်လိုက်ရသည်။

သို့ရာတွင် မင်းသမီးလေးမေရီသည် နာတာရှာ ၏ မျက်နှာကိုမြင်လိုက်ရသည်နှင့် တစ်ပြိုင်နက် ပူဆွေး သောက ရောက်ခြင်းအရာတွင် မိမိထက် လျော့နည်း ခြင်းမရှိသော စစ်မှန်သော အဖော်တစ်ယောက်၊ မိတ်ဆွေ ကောင်းတစ်ယောက်ဖြစ်ခြင်းကို ချက်ချင်းသဘောပေါက် လိုက်လေပြီ။ မင်းသမီးလေးမေရီသည် နာတာရှာထံ ပြေးလာကာ ပွေ့ဖက်ပြီးနောက် ပခုံးထက်၌ ခေါင်းတင်၍ ငိုနေမိသည်။

မင်းသားကလေး အင်ဒရေ၏ ခေါင်းရင်းတွင်ထိုင် လျက်ရှိသော နာတာရှာသည် မင်းသမီးလေးမေရီ ရောက် လာသည်ဟု ကြားလျှင်ကြားချင်း ခန်းဆောင်ထဲမှအသာ အယာထွက်လာခဲ့ကာ ပေါ့ပါးဖျတ်လတ်ဟန်ရှိသည်ဟု မင်းသမီးလေးမေရီယူဆမိသော ခြေလှမ်းများဖြင့် ခပ်သုတ် သုတ်တက်လာခဲ့ခြင်း ဖြစ်သည်။

ဧည့်ခန်းဆောင်ထဲသို့ အပြေးအဖြန်း ဝင်ရောက် လာသည့်အချိန်၌ နာတာရှာ၏ တုန်လှုပ်ချောက်ချားလျက် ရှိသောမျက်နှာပေါ်တွင် ဖော်ပြလျက်ရှိသော အခြင်းအရာမှာ တစ်ခုတည်းသာရှိ၏။ ၎င်းကားအချစ်၏အရိပ်အယောင်။ မင်းသားကလေးအင်ဒရေအပေါ်တွင် ထားရှိသော အတိုင်း အဆမရှိသောအချစ်၊ မင်းသမီးလေးမေရီအပေါ်တွင် ထားရှိ သောအချစ်၊ မင်းသားကလေးအင်ဒရေနှင့် ရင်းနှီးနီးစပ် သူတိုင်းအပေါ်တွင် ထားရှိသော အချစ်၏ အရိပ်အယောင် သနားကရုဏာ၏ အရိပ်အယောင်၊ အခြားသူများအား ကိုယ် ချင်းစာနာသည့် အရိပ်အယောင်၊ ထို

သူများအား တတ်စွမ်း သမျှ ကူညီလိုသော စိတ်စေတနာ၏ အရိပ်အယောင်တို့ပေတည်း။ ထိုအချိန်၌ နာတာရှာ၏ ရင်ထဲအသည်းနှလုံးထဲ တွင် မိမိကိုယ်ရေးကိုယ်တာအတွက်သော် လည်းကောင်း၊ မင်းသားကလေးအင်ဒရေနှင့် မိမိတို့ကိစ္စအတွက်သော် လည်းကောင်း နည်းနည်းလေးမျှထည့်သွင်းစဉ်းစားမိဟန် မတူ ချေ။

မင်းသမီးလေးမေရီသည် နာတာရှာ၏ မျက်နှာကို မြင်လိုက်သည်နှင့် တစ်ပြိုင်နက် အကင်းပါးသူပီပီ ဤ အချက်များအားလုံးကို သတိပြုမိသည့် အလျောက် နာတာ ရှာ၏ ပခုံးပေါ်တွင် ခေါင်းတင်ကာ ဝမ်းနည်းဝမ်းသာဖြင့် ငိုမိသည်။

မင်သမီးလေးမေရီသည် ခေါင်းကိုမော့ကာ မျက် ရည်များကို သုတ်လိုက်ပြီးနောက် နာတာရှာကို ကြည့်လိုက် သည်။ မင်းသားကလေးအင်ဒရေ၏ အကြောင်းကို နာတာ ရှာအား မေးလျှင် ပြည့်ပြည့်စုံစုံသိရလိမ့်မည်ဟုလည်း သဘောပေါက်လိုက်သည်။

”ဘယ့်နှယ်နေ” မင်းသမီးလေးမေရီက ဆုံးအောင် မမေးနိုင်ဘဲ ရပ်ထားလိုက်သည်။

ဤအကြောင်းကို စကားလုံးများဖြင့် မေးဖို့လည်း မလွယ်၊ စကားလုံးများဖြင့် ဖြေဖို့လည်း ခက်သည်ဟု မင်း” သမီးလေးမေရီ ခံစားမိပါသည်။ နာတာရှာ၏ မျက်နှာနှင့် မျက်လုံးများက စကားလုံးများထက် ပီပြင်လေးနက်စွာပြော ပြလျက်ရှိသည်ဟု မင်းသမီးလေးမေရီ ယူဆလိုက်ပါသည်။

နာတာရှာသည် မင်းသမီးလေးမေရီကို မျက်လုံး အကြောင်သားဖြင့် စိုက်ကြည့်လျက်ရှိ၏။ မိမိသိ သမျှကို ပြောသင့်မပြောသင့်ကိုလည်း ဝေခွဲမရ ဖြစ်နေဟန် ရှိ၏။ မိမိ၏ အသည်းနှလုံးထဲသို့ နက်ရှိုင်းစွာ ထိုးဖောက် ကြည့်လျက်ရှိသည့်

မင်းသမီးကလေးမေရီ၏ ရွှန်းမြသော မျက်လုံးရွဲကြီးများကို ကြည့်ရင်းက မိမိတွေ့ မြင်သမျှကို ခြွင်းချန်ပြောဆိုခြင်းငှာ မသင့်ဟုလည်း ယူဆလိုက်မိသည်။ နာတာရှာသည် နှုတ်ခမ်းများကို ရုတ်တရက်မဲ့လိုက်မိ လေရာ အရုပ်ဆိုးသော အရေးအတွန့်များသည် ၎င်း၏ ပါးစပ်ပတ်ဝန်းကျင်တွင် ပေါ်လာကြလေသည်။ နာတာရှာ သည် မျက်နှာကို လက်ဝါးဖြင့် အုပ်ကာ ရှိုက်ကြီးတငင် ငိုချလိုက်မိသည်။

မင်းသမီးလေးမေရီ နားလည်ပါပြီ။

သို့ရာတွင် မင်းသမီးလေးမေရီသည် ကျေနပ်ခြင်း မရှိသေးဘဲ ၎င်းကိုယ်တိုင် ယုံကြည်ကိုးစားခြင်းမပြုသော စကားလုံးများဖြင့် ထုတ်ဖော်မေးမြန်းခြင်းပြု မိသည်။

“ဒဏ်ရာက ဘယ့်နှယ်နေသေးသလဲဟင်။ ဒီပြင် ကျန်းမာရေးကကော”

“ထိပ် ထိပ်ထား လိုက်ကြည့်ပါ” ဟုသာ နာတာရှာ က ပြောနိုင်တော့သည်။

၎င်းတို့နှစ်ဦးသည် မင်းသားကလေး အင်ဒရေ၏ . ခန်းဆောင်ပြင်ဘက်တွင် အားရအောင် ငိုပြီးမှ တည်ငြိမ် သော မျက်နှာထားကိုယ်စီဖြင့် ခန်းဆောင်ထဲသို့ ဝင်လာ နိုင်ကြသည်။

သူ့ရောဂါက ဘယ်လိုဖြစ်သွားတာလဲဟင်။ အခြေ အနေအခြေအနေဆိုနေတာ တော်တော်ကြာပလား။ ဘယ် တုန်းက ခုလို စဖြစ်သွားတာလဲ” မင်းသမီးလေးမေရီက အမေးမြန်းခြင်းပြု၏။

အစပထမတွင် မင်းသားကလေးအင်ဒရေမှာ ဒဏ်  ရာမှာ နာကျင်ခြင်းနှင့် အဖျားတက်ခြင်းတို့သာ ရှိခဲ့ ကြောင်း သို့ရာတွင် ထရွိုင်ဇာသို့ ရောက်သည့်အခါတွင် အဖျားရောဒဏ်ရာပါ သက်သာလာသော်လည်း သမား တော်ကြီးက သွေးဆိပ်ဖြစ်မည်ထင်ကာ စိုးရိမ်လျက်ရှိ ကြောင်း၊ တစ်ဖန် သွေးဆိပ်ဖြစ်မည့်

အန္တရာယ်လည်း မရှိတော့ကြောင်း၊ ယာရိုစလာဗာသို့ ရောက်သောအခါ တွင် ဒဏ်ရာမှ မန်းဝင်လာကြောင်း (နာတာရှာမှာ မန်း ဝင်ခြင်း စသည့် ကိစ္စမျိုးကို နားလည်နေလေပြီ။) သမား တော်ကြီးက မန်းဝင်ခြင်းမှာ စိုးရိမ်ဖွယ်မရှိဟု ပြော ကြောင်း၊ ထို့နောက် အဖျားဝင်လာပြန်ကြောင်း၊ သို့ရာတွင် သမား တော်ကြီးက အဖျားမှာ စိုးရိမ်စရာမလိုပဟု ပြောဆိုကြောင်း ဖြင့် နာတာရှာ ခရေစေ့တွင်းကျ ပြောပြသည်။

"ဒါပေမဲ့ လွန်ခဲ့တဲ့ နှစ်ရက်လောက်စပြီး ခုလို စဖြစ်လာတော့တာပါပဲ ထိပ်ထားရယ်" နာတာရှာက ငိုရှိုက် ခြင်း မပြုမိစေရန် အနိုင်နိုင်မျိုသိပ်၍ ပြော လိုက်သည်။ "ဘာ့ကြောင့် ခုလိုစဖြစ်လာသလဲတော့ မသိဘူး။ အစ်မ တော် ထိပ်ထားကိုယ်တိုင်သာ အကဲခတ်ကြည့်ပေတော့"

"သူသိပ်အားနည်းနေသလား။ တော်တော်ကြီး ချုံးကျသွားသလား" မင်းသမီးလေးမေရီက မေး၏။

"မဟုတ်ဘူး အစ်မတော်၊ ဒီထက်ဆိုးတယ်။ အစ်မ တော်ကိုယ်တိုင်သာ ကြည့်ပေတော့ အစ်မတော်ထိပ်ထား။ အစ်ကိုဟာ သိပ်တော်တယ်နော်။ အစ်မ တော် အစ်ကိုလေ အစ်ကိုနေရတော့မှာ မဟုတ်ဘူးထင်တယ် အစ်မတော်။ ဘာ ဖြစ်လို့လဲဆိုတော့။

## အခန်း ၁၅

နာတာရှာက ပြုလုပ်နေကျဖြစ်၍ ကျွမ်းကျင်လျက်ရှိသော လှုပ်ရှားမှုမျိုးဖြင့် မင်းသားကလေး အင်ဒရေ၏ ခန်းဆောင် တံခါးကို တွန်းဖွင့်လိုက်လျက် မိမိအား ခန်းဆောင်ထဲသို့ ရှေ့ကဝင်စေပြီး နောက်ကလိုက်လာသည့်အခါတွင်မူကား

မင်းသမီးလေးမေရီ၏ ရင်ထဲမှအလုံးကြီးသည် လည်ချောင်း ဝသို့ရွေ့က ဝင်စေပြီး နောက်ကလိုက်လာသည့်အခါတွင် မူကား မင်းသမီးလေးမေရီ၏ ရင်ထဲမှ အလုံး ကြီးသည် လည်ချောင်းဝသို့ ဆောင့်တက်လာသည်ဟု ထင်လိုက်ရ ၏။ မင်းသမီး လေးမေရီသည် ခန်းဆောင်ထဲသို့ မဝင်မီ ကတည်းက တည်ငြိမ်အောင် မနည်း ကြိုးစားခဲ့၍ ယခုတိုင် ကြိုးစားလျက်ရှိသော်လည်း မော်တော်မင်းသားကလေးက အင်ဒရေကိုမြင်လိုက်သည်၌ မငိုမရှိုက်ဘဲ နေနိုင်မည်မဟုတ် ကြောင်းကို သိ လိုက်ပါပြီး ခပ်စောစောက "လွှန်ခဲ့တဲ့နှစ်ရက်လောက်ကစပြီး ခုလို ဖြစ်လာတာပါ ပဲ ထိပ်ထားရယ်" ဟု နာတာရှာက သံကလေးတိမ်တိမ်ဖြင့် ပြောခဲ့၏။ ယခု ထို စကား၏ အဓိပ္ပာယ်ကို မင်းသမီးလေးမေရီသိလေပြီ။ မင်းသား ကလေး အင်ဒ ရေ၏ စိတ်သည် ရုတ်တရက် နူးညံ့ပျော့ ပျောင်းသွားခဲ့လေပြီ။ ဤသို့ စိတ်ဓာတ် ပျော့ပျောင်းကာ သိမ်မွေ့လာခဲ့ခြင်းသည် တဖြည်းဖြည်းနီးကပ်လာသော သေ ခြင်း၏ နိမိတ်လက္ခဏာများဖြစ်ကြောင်းကို မင်းသမီး လေးမေရီ နားလည်ခဲ့ပြီ။ မင်းသမီးလေးမေရီသည် ခန်း ဆောင်ထဲသို့ ဝင်လိုက်သည်နှင့် ငယ်စဉ်တုန်းက မိမိ မြင်ခဲ့ဖူး သကဲ့သို့ နူးညံ့ချိုသာ၍ ကြင်နာသနားဟန်ရှိသော မင်းသား ကလေး၏ မျက်နှာကို မြင်လိုက်သည်။ မင်းသားကလေး အင်ဒရေ၏ ဤမျက်နှာအမူအရာကို ကာလအတန်ကြာမျှ မြင်တွေ့ခဲ့ခြင်းမရှိရာမှ ယခုတစ်ဖန်ပြန်မြင်လိုက်ရသော အခါတွင် အနည်းငယ် ထူးဆန်းလျက်ရှိသည်ဟု မင်းသမီး လေးမေရီ ထင်မိသည်။ ခမည်းတော်ကြီးကံတော်ကုန်ခါနီး တုန်းက ကဲ့သို့ပင် မင်းသားကလေး အင်ဒရေ သည်လည်း မိမိအား ချိုသာနူးညံ့သော စကားများကို ပြောခြင်းပြုပေ လိမ့်မည်။ မိမိသည် ထိုစကားများကို မည်သို့ ကြားရက်၊ နာရက်ပါမည်နည်း။ ထိုစကားမျိုးကို ကြားလျှင် မျက်ရည် တွေ ဘယ်က စီးကျလာသည်မသိ။ ၎င်းရွေ့၌ပင် ချုံးပွဲချငို တော့မည်သာ ဖြစ်လေသည်။ သို့ရာတွင် မတတ်နိုင်ပြီ။ ထိုအခြင်းအရာတို့ကို အ နေးနှင့် အမြန် တွေ့ ရတော့မည် သာ မဟုတ်ပါလော။ မင်းသမီးလေးမေရီသည်

ထိုသို့တွေး ကာ ရုပ်သွင်ကို ပို၍ ပီပြင်စွာ မြင်လာရ၍ မိမိ၏ မှုန်မိ သော မျက်လုံး များဖြင့် ၎င်း၏ပုံသဏ္ဍာန်ကို ပို၍ ကြည်လင် အောင် ကြိုးစားမိသည်နှင့်အမျှ လည်ချောင်းတွင် တစ် ဆို့နေသည့် အလုံးကြီးသည် တဖြည်းဖြည်း အထက်သို့ တက်လာခဲ့လေပြီ။ ထို့နောက်တွင်ကား မင်းသမီးလေး မေရီသည် မင်းသား ကလေး အင်ဒရေ၏ မျက်နှာကို သဲကွဲစွာ မြင်လာကာ ၎င်းနှင့် အကြည့်ချင်းဆုံမိ ကြသည်။

မင်းသားကလေးအင်ဒရေသည် ရှဥ့်မွေးကွပ်ထား  သည့် ညဝတ်ရုံကြီး ဝတ် လျက် မှီအုံးများပတ်ပတ်လည် ဝန်းရံကာ ညောင်စောင်းပေါ်တွင် လဲလျောင်း လျက် ရှိ၏။ ၎င်း၏ ခန္ဓာကိုယ်မှာ ကြုံလှီဖျော့တော့ခဲ့လေပြီ။ ပါးလျား၍ ဖောက်ထွင်း မြင်ရမတတ် ဖြူဖွေးလျက်ရှိသော လက်တစ် ဖက်တွင် ပဝါတစ်ထည် ကို ကိုင်ထားပြီး အခြားတစ်ဖက်ဖြင့် ရိတ်လှီးခြင်းမပြုဘဲ ထားသော နှုးညံ့သည့် မုတ်ဆိတ်မွေး များကို ပွပ်သပ်လျက်ရှိသည်။ ၎င်း၏လက်ချောင်းများ သည် ဖြည်းညင်းစွာ လှုပ်ရှားလျက် ရှိကြ၏။

မင်းသားကလေးအင်ဒရေ၏ မျက်နှာကိုမြင်ရ၍ ၎င်းနှင့် မျက်လုံးချင်းဆုံမိ သည့်အခါ၌ မင်းသမီးလေး မေရီ၏ ခြေလှမ်းများသည် ခနဲ့ဖြစ်သွားကြ၏။ ၎င်း ၏ မျက်ရည်များသည် ခန်းခြောက်သွားကြကာ လည် ချောင်းတွင် တစ်ဆို့နေသော အလုံးကြီးသည် ပျောက်သွား ၏။ မင်းသားကလေးအင်ဒရေ၏ မျက်နှာနှင့် မျက်လုံးများ မှ အမူအရာကို မြင်လိုက်ရသည်၌ မင်းသမီးလေး မေရီ သည် မလုံမလဲဖြစ်ကာ မရွံ့မရဲဖြစ်လျက် ရှိလေသည်။

“အို ငါ့မှာ ဘာအပြစ်ရှိလို့လဲ” ဟု မင်းသမီးလေး မေရီသည် ကိုယ့်ကိုယ်ကို အားတင်းခြင်းပြု၏။ “ဘာ အပြစ်မှတော့ မရှိပါဘူး။ ဒါပေမဲ့ အစ်မတော်မှာတော့ ကာယသုခနဲ့ ပြည့်စုံပြီး ကာယသုခရှိတဲ့သူတွေအကြောင်း ကို တွေးလို့။ ကျွန်

တော့်မှာသာ” မင်းသားကလေး အင် ဒရေ၏ အေးစက်တင်းမာသောအကြည့်က ထိုသို့ပြောနေ ဟန်ရှိ၏။

မိမိ၏ အစ်မတော်နှင့် နာတာရှာတို့ နှစ်ယောက် ကို ဖြည်းညင်းစွာကြည့် လျက်ရှိသော မင်းသားကလေးအင်ဒ ရေ၏ အကြည့်သည် ၎င်းတို့နှစ်ဦး၏ ဗဟိဒ္ဓ သဏ္ဍာန်ကို ကျော်ကာ အတွင်းသဏ္ဍာန်ကို ထိုးဖောက်ကြည့်လျက် ရှိသည်ထင် ရ၏။ ထိုအကြည့်၌ မနာလိုဝန်တိုသော အမူ အရာသည် အထင်သားပေါ်လျက် ရှိ လေသည်။

မင်းသားကလေးအင်ဒရေသည် အစ်မတော်မေရီကို နမ်းရှုပ်ကာ ၎င်း၏ ထုံးစံ အတိုင်း အစ်မတော်မေရီ၏ လက်ကို ကိုင်ထားသည်။

“အစ်မတော် နေကောင်းတယ်နော်။ ဒီကို ဘယ်လို လုပ်ရောက်လာကြတာ လဲ” မင်းသားကလေး အင်ဒရေ၏ အသံသည် ၎င်း၏ အကြည့်ကဲ့သို့ တည်ငြိမ် လျက်ရှိ၏။ ဝမ်းနည်းသံလည်း မပါ၊ ဝမ်းမြောက်သံလည်းမရှိ၊ ဥပေက္ခာ သဘော ကို ဆောင်လျက် ရှိလေပြီ။

( အကယ်၍သာ မင်းသားကလေး အင်ဒရေသည် မချိမဆံ့ အော်ဟစ် ညည်းညူခြင်းပြုပါက ထိုညည်းညူသံ သည် ယခုအသံလောက်ပင် ကြောက်စရာ ကောင်းလိမ့်မည် ဟု မထင်မိချေ။

“သားကလေးကော ပါသေးသလား ” မင်းသား ကလေးအင်ဒရေက ယခင် ကကဲ့သို့ တည်ငြိမ်ဖြည်းညင်း သောအသံဖြင့် မေး၏။ ၎င်း၏အမူအရာသည် အတိတ်က အခြင်းအရာများကို မှတ်မိရန် မနည်းကြိုးစားနေရသည့် အမူအရာမျိုး ဖြစ်လေသည်။

“ခုဘယ်လိုနေသေးသလဲဟင်” မင်းသမီးလေး မေရီသည် ပါးစပ်က အလိုလို ထွက်သွား၏။ ကိုယ့်ဘာ သာပင် အံ့ဩမိသေးသည်။

“သမားတော်ကိုပဲ အစ်မတော် မေးကြည့်တော့ လေ”ဟု ၎င်းက ဖြေ၏။ တစ်ဖန် မင်းသားကလေး အင်ဒရေသည် ချစ်ခင်မြတ်နိုးစိတ်ဝင်ရန် ကြိုးစားလျက် ရှိရာက နှုတ်ခမ်းများကို လှုပ်၍ပြောနေပြန်သည်။ (ယခု အချိန်၌ ၎င်း၏ အတွေးများနှင့် စကားများသည် ကိုက် ညီခြင်း မရှိကြတော့ချေ။)

”ခုလိုလာတဲ့အတွက် ကျေးဇူးတင်တယ် အစ်မ တော်”

မင်းသမီးလေးမေရီက ၎င်း၏ လက်ကို အသာ အယာ ဖျစ်ညှစ်လိုက်သည်။ မင်းသားကလေးအင်ဒရေ သည် ဤမျှ ဖိအားကို နာကျင်လွန်းသည့်အတွက် ရှုံ့မဲ့လိုက်ပြီးနောက် ငြိမ်နေသည်။ မင်းသမီးလေးမေရီသည် ဘာကို ဆက်ပြောရမှန်းမ သိတော့ချေ။ လွန်ခဲ့သည့်နှစ် ရက်ခန့်က မိမိ၏မောင်တော်မင်းသားကလေး အင်ဒရေ မည်သို့ ဖြစ်လာခဲ့သည်ကို မင်းသမီးလေးမေရီ ယခု သဘောပေါက်လေပြီ။ ၎င်း၏စကား၊ ၎င်း၏အသံ၊ အထူးသဖြင့် တည်ငြိမ်စိမ်းကားလှသော ၎င်း၏အကြည့်၌ ဤကမ္ဘာလောကကြီး၏ ရှိရှိသမျှသောအရာတို့မှ ဖယ်ခွာ သော သဘောသည် ကိန်းဝပ်လျက်ရှိ၏။ ဤသဘောမျိုး ကို အသက်ရှင်လျက်ရှိသော လူတစ်ယောက်တွင် တွေ့မြင် နေရခြင်းမှာ ကြောက်စရာကောင်းလှသည်။ မှန်ပါသည်။ ( ယခုအချိန်တွင် မင်းသားကလေးအင်ဒရေမှာ အသက်ရှင် လျက်ရှိသော အရာဝတ္ထုကို သိရှိနားလည်ရန်အတွက်  မနည်းကြိုးစားအားထုတ်ရပါသည်။ မင်းသားကလေး အင်ဒရေ နားမလည်ရခြင်းမှာ နားလည်နိုင်သော စွမ်းအား တို့ မ ရှိ၍ မဟုတ်ပါ။ အခြားအရာဝတ္ထုတစ်ခု၊ အသက်ရှင် လျက် ရှိသူတို့ နားလည်ခြင်း လည်းမရှိ၊ နားလည်နိုင်သော စွမ်းအားတို့ မရှိသော အခြားအရာဝတ္ထုတစ်ခုကို

သိမြင် လျက်ရှိကာ ထိုအရာဝတ္ထုက ၎င်းကို စိုးမိုးလွှမ်းခြုံလျက် ရှိခြင်းကြောင့်ပါ တည်း။

"ကံတရားဟာ တော်တော်ရက်စက်တယ်နော် အစ်မတော်။ ကြည့်စမ်း။ ကျွန်တော်တို့နှစ်ယောက်ဟာ လာပြီး ဆုံစည်းကြရသေးတယ်" မင်းသားကလေး အင် ဒရေက တိတ်ဆိတ်ခြင်းကို ဖြိုခွင်းကာ နာတာရှာကို လက်ညှိုးထိုး၍ ပြော လိုက်သည်။ "သူ့ခမျာလဲ တစ်ချိန် လုံး ကျွန်တော့်ကို ပြုစုရတာနဲ့ပဲ အချိန်ကုန်နေ တာပဲ"

မင်းသမီးလေးမေရီသည် ထိုစကားများကို နား ထောင်ရင်း ကိုယ့်နားကိုပင် မယုံနိုင်အောင် ဖြစ်မိသည်။ အကင်းပါး၍ စိတ်နှလုံးနူးညံ့သော မင်းသားကလေး အင်ဒရေသည် မိမိကလည်း ချစ်၍ မိမိကိုလည်း ချစ်သော နာတာရှာ၏ ရှေ့တွင် အဘယ်ကြောင့် ဤစကားမျိုးကို ပြောရက်လေသနည်း။ အကယ်၍သာ အသက် ရှင်ဦးမည် ဟု မျှော်လင့်သေးလျှင် ဤစကားမျိုးကို ဤမျှနာကြည်း အေးစက်သော အသံမျိုးဖြင့် ပြောရက်မည် မဟုတ်ချေ။ မိမိသေတော့မည် ဆိုခြင်းကိုမသိခဲ့လျှင် နာတာရှာကို အဘယ်မှာလျှင် မသနားဘဲနေမည်နည်း။ အဖြေမှာ တစ်ခု တည်း ရှိ ပါသည်။ မင်းသားကလေး အင်ဒရေသည် လောကကြီးကို စိတ်နာလျက်ရှိလေပြီ။ ဥပေက္ခာပြုလိုက် လေပြီ။ ပို၍ အရေးကြီးသော အရာတစ်ခုကို မြင်လျက် ရှိလေ ပြီ။

၎င်းတို့စကားဝိုင်းသည် ပြတ်တောင်းတောင်းဖြင့် အသက်ကင်းမဲ့လှသည်။ အဆက်အစပ်မရှိဘဲ ဖြစ်လျက် ရှိသည်။

"အစ်မတော် မေရီထိပ်ထားက ရာဇန်က လှည့် လာတာ" နာတာရှာက ပြောလိုက်သည်။

နာတာရှာက ၎င်း၏ အစ်မတော်အား "မေရီထိပ် ထားဟု သုံးနှုန်းလိုက်ခြင်းကို မင်းသားကလေးအင်ဒရေ သတိမထားလိုက်မိချေ။ နာတာရှာကိုယ်တိုင်ကလည်း ပါးစပ်က ထွက်ပြီးမှ သတိထားလိုက်မိသည်။

"ဟုတ်လား" ၎င်းကဆို၏။

"မော်စကိုတစ်မြို့လုံးလဲ မီးလောင်သွားပြီတဲ့။ ပြီးတော့"

နာတာရှာက ရပ်လိုက်၏။ စကားပြော၍ မဖြစ် တော့ပြီ။ မင်းသားကလေးအင်ဒရေသည် စကားကို ကြိုးစားက နားထောင်ခြင်းပြုသော်လည်း ကြိုးစား၍ မရတော့ကြောင်း တဖြည်းဖြည်း ထင်ရှားလာခဲ့လေပြီ။

"ဟုတ်တယ်၊ မော်စကိုမြို့ကြီးကို သူတို့ မီးရှို့ပစ် ခဲ့ကြပြီ။ စိတ်မကောင်းစရာကြီး" မင်းသားကလေး အင် ဒရေက မိမိ ရှေ့တူရူသို့ ရည်ရွယ်ချက်ကင်းမဲ့စွာ ပြူး ကြောင်ကြောင်ကြည့်ရင်း ပြောလိုက်ပြီးနောက် မုတ်ဆိတ် မွေးများကို လက်ချောင်းကလေးများဖြင့် ပွတ်သပ်လျက် ရှိသည်။ ခဏကြာမှ ၎င်းတို့နှင့် ကြင်နာစွာ စကားပြော လိုသေးသကဲ့သို့ မင်းသမီးလေးမေရီဘက်သို့ ရုတ်တရက် လှည့်ကာ

"အစ်မတော်ထိပ်ထားကော နီကိုလေနဲ့ တွေ့သေး သလား။ အစ်မတော်ကို နှစ်သက်ကြောင်း ဒီကို စာရေး ( လိုက်သေးတယ်လေ"ဟု ရိုးသားတည်ငြိမ်စွာ ပြောလိုက် သည်။ မိမိစကားသည် အသက်ရှင်လျက်ရှိသူများအဖို့ မည်သို့ အဓိပ္ပာယ်ဆောင်သည်ကိုလည်း နားလည်နိုင်စွမ်း မရှိတော့ချေ။ အတန်ကြာမှ မိမိ ကာလအတန်ကြာမျှ လိုက်လံရှာဖွေလျက်ရှိသော စကားလုံးများကို တွေ့သည့်အတွက် ကျေနပ်သွားဟန်ဖြင့် ခပ်မြန်မြန် ဆက်ပြောလိုက် သည်။

"အစ်မတော် သူ့ကို နှစ်သက်ရင်လဲ အစ်မတော် အဖို့ လက်ထပ်လိုက်တာ အကောင်းဆုံးပဲလေ"

မင်းသမီးလေးမေရီသည် ထိုစကားများကို ကြား သော်လည်း ၎င်းအဖို့ အဓိပ္ပာယ်မရှိတော့ပြီ။ ထိုစကား များသည် အသက်ရှင်လျက်ရှိသူများ၏ မင်းသား ကလေး အင်ဒရေတို့ ယခုအချိန်တွင် မည်မျှဝေးကွာနေခြင်းကို ပြသည့် သာဓက တစ်ခုသာ ဖြစ်နေလေပြီ။

"အစ်မတော်အကြောင်းကို ဘာကြောင့် ပြောနေရ တာလဲ အင်ဒရေ" မင်းသမီးလေးမေရီက ခပ်တိုးတိုး ပြော၍ နာတာရှာကို လှမ်းကြည့်လိုက်သည်။

နာတာရှာသည် ထိုအကြည့်ကို ခံစားမိလိုက်သော် လည်း ပြန်၍ မကြည့်ချေ။ ၎င်းတို့သုံးယောက်သည် တိတ်ဆိတ်သွားကြပြန်သည်။

"အင်ဒရေ" မင်းသမီးလေးမေရီက တုန်ယင်သော အသံဖြင့် ရုတ်တရက် ခေါ်လိုက်သည်။ "သားလေးနဲ့ တွေ့ မလားဟင်။ သားလေးက တဖွဖွမေးနေတယ်"

မင်းသားကလေးအင်ဒရေက သိသိသာသာကြီး ပြုံးလိုက်၏။ သို့ရာတွင် ထို အပြုံးသည် ကြည်နူးခြင်း ကြောင့်သော် လည်းကောင်း၊ မိမိသားငယ်အား ချစ်ခင် ကြင်နာခြင်းကြောင့်သော် လည်းကောင်း ဖြစ်သော အပြုံး မျိုးမဟုတ်ချေ။ မိမိအား စိတ်အားထက်သန်လာအောင် နှိုးဆွရာ၌ နောက်ဆုံးနည်းလမ်းဟု ၎င်းတို့ယူဆနေ သော နည်းလမ်းကို အသုံးပြုနေခြင်းဖြစ်သည်ဟု တွေးမိသည့် အတွက် ပြုံးလိုက် သော လှောင်ပြုံးသာ ဖြစ်လေသည်။ မင်းသားကလေး အင်ဒရေ၏ မျက်နှာ အမူအရာကို အလွတ် ရလျက်ရှိသော မင်းသမီးကလေးမေရီသည် ဤအချက် ကို ပထမဆုံးအကြိမ် အထိတ်တလန့် မြင်လိုက်မိသည်။

"တွေ့ရရင် ကောင်းတာပေါ့ အစ်မတော်။ သူ ကော နေကောင်းရဲ့လား"

သားတော် “ဘိုးအေချစ်” မင်းသားကလေးအား ခန်းဆောင် ထဲသို့ ခေါ်လာသောအခါတွင် ကြောက်ရွံ့ထိတ်လန့်သော မျက်လုံးများဖြင့် ၎င်း၏ဖခင်မင်းသားကလေး အင်ဒရေ ကို ကြည့်လျက် ရှိ၏။ မည်သူမျှ မငိုကြွေးသည့်အတွက် ၎င်းသည်လည်း ငိုကြွေးခြင်း မပြုချေ။ မင်းသားကလေး အင်ဒရေသည် သားငယ်ကို နမ်းရှုပ်လိုက်၏။ သို့ရာတွင် မည်သည့်စကားကို ပြောရမှန်း သိဟန်မတူချေ။

“ဘိုးအေချစ်” မင်းသားလေးကို ပြန်ခေါ်သွားကြ သောအခါ၌ မင်းသမီးလေး မေရီသည် မင်းသားလေး အင်ဒရေထံ ပြန်လျှောက်လာကာ နမ်းရှုပ်လိုက်၏။ ထို့နောက် မျက်ရည်များကို ဆက်လက်ချုပ်တည်းခြင်းငှာ မစွမ်းနိုင်တော့ဘဲ ငိုကြွေးလျက် ရှိလေသည်။ “

မင်းသားကလေး အင်ဒရေသည် အင်မတော်မေရီ အား စူးစိုက်ကြည့်လျက် ရှိ၏။

“ဘာဖြစ်လို့လဲ။ သားလေးကြောင့်လား”ဟု မေး ၏။  မင်းသမီးကလေးမေရီက ငိုလျက် ခေါင်းညိတ်ပြ ( လိုက်သည်။

“အစ်မတော်၊ ခရစ်ဝင်ကျမ်းကို” မင်းသားကလေး အင်ဒရေ၏ အသံသည် တိမ်ဝင်သွား၏။

“ဘာလဲ အင်ဒရေ”

“ဘာမှမဟုတ်ပါဘူး အစ်မတော်။ ကျွန်တော့် ( အနားမှာ မငိုပါနဲ့ အစ်မတော်” မင်းသားကလေးအင် ဒရေက အေးစက်သောအမူအရာဖြင့် မင်းသမီးလေး မေရီ ကို ကြည့်ရင်း ပြောလိုက်သည်။

မင်းသမီးကလေးမေရီ ငိုကြွေးခြင်းမှာ မိမိ၏သား ငယ် “ဘိုးအချစ်” မင်းသားကလေးသည် လောကအလယ် တွင် အဖမဲ့သားအဖြစ် ကျန်ရစ်ရှာတော့

မည်ဟု တွေးမိ သည့်အတွက် ငိုကြွေးခြင်းဖြစ်ကြောင်း မင်းသားကလေး ( အင်ဒရေ နားလည်၏။ မင်းသားကလေး အင်ဒရေသည် လူ့ဘဝ၌ ပြန်လည်အသက်ရှင်ရန်၊ အဖြစ်အပျက်များကို အသက်ရှင်လျက်ရှိသူများ၏ အမြင်ဖြင့် ကြည့်ရန် ကြီးစွာ ကြိုးစားအားထုတ်ခြင်း ပြုသည်။

"ဟုတ်တယ်၊ ဒီအဖြစ်ဟာ သူတို့အဖို့ ကြေကွဲဝမ်း နည်းစရာကြီးပေပဲ။ ဒါပေမဲ့ ဒါဟာ မဆန်းပါဘူး။ ဒီ အတိုင်းပဲ ဖြစ်ရမှာပဲ"ဟု မင်းသားကလေး အင်ဒရေ တွေး မိသည်။

"လေတွင် ကျက်စားသော ငှက်ကျေးတို့သည် စိုက်ပျိုးခြင်းမပြုကြကုန်။ ရိတ်သိမ်းခြင်းလည်း မပြုကြ ကုန်။ သို့သော်လည်း အဖဘုရားသခင်သည် ၎င်းတို့အား " ကျွေးမွေးစောင့်ရှောက်တော်မူ၏"

မင်းသားကလေးအင်ဒရေသည် ခရစ်ဝင်ကျမ်းမှ စာတစ်ပိုဒ်ကို တစ်ယောက်တည်း ရွတ်ကြည့်၏။ ဤ တရားတော်၏ အနက်ကို မင်းသမီးကလေးမေရီအား ပြောပြလိုက်ချင်၏။ "အို၊ ဒါတွေကို သူတို့ နားလည်မှာလဲ မဟုတ်ပါဘူး။ သူတို့လမ်း သူတို့သွားကြမှာပါ။ သူတို့ ( အင်မတန် အမြတ်တနိုးထားတဲ့ ခံစားချက်တွေ၊ ငါတို့ အားလုံးရဲ့ ခံစားချက်တွေ၊ အင်မတန်အရေးကြီးတယ်လို့ ထင်တဲ့အရာတွေဟာ တကယ်တော့ မက်မောစရာမရှိပါ ဘူး။ ဒါကို သူတို့ နားမလည်နိုင်ကြဘူး။ ငါတို့ဟာ တစ်ယောက်ကို တစ်ယောက် နားမလည်နိုင်ကြပါကလား"

မင်းသားကလေးအင်ဒရေသည် ဤသို့တွေးကာ  တိတ်ဆိတ်လျက် ရှိ၏။

မင်းသားကလေးအင်ဒရေ၏ သားငယ်မှာ အသက် ခုနစ်နှစ် ရှိလေပြီ။ စာကို ကောင်းစွာ မဖတ်တတ်သေး။ ဘာကိုမျှ မသိသေးချေ။ "ဘိုးအေချစ်" မင်းသားကလေး သည် ထို့နောက်တွင် လူ့ဘဝကြီးကို ဖြတ်သန်းခဲ့ရ၏။ အသိတွေ ရလာ

ခဲ့၏။ အတွေ့အကြုံများကို ရင်ဆိုင်ခဲ့ ရ၏။ (သို့ရာတွင် ထို့နောက်၌ မိမိ၏ ဖခင် အင်ဒရေ၊ မင်းသမီးလေးမေရီနှင့် နာတာရှာသို့ သုံးဦးသား ဖြစ်ပျက် နေပုံ မြင်ကွင်း၏ အဓိပ္ပာယ်လေးနက်ခြင်းကို နားလည် သဘောပေါက်ရာ၌ကား ထိုအခါကထက် မည်သည့်နည်း နှင့်မျှ ပိုနိုင်လိမ့်မည် မဟုတ်တော့ချေ။ "ဘိုးအေ ချစ်" မင်းသားလေးသည် ဤရင်နှင့်ဖွယ်ရှုခင်းကို ကောင်းစွာ နားလည် သဘောပေါက်၏။ ငိုကြွေးခြင်းမပြုဘဲ ခန်း ဆောင်ထဲမှ ထွက်လာခဲ့ပြီး သည့်နောက်၌ "ဘိုးအေချစ်" မင်းသားလေးသည် မိမိနှင့်အတူ ထွက်လိုက်လာ သော နာတာရှာ့ထံ တိတ်ဆိတ်စွာလျှောက်လာခဲ့ကာ ၎င်း၏ လှပမှုန်မှိုင်းသော မျက်လုံးများဖြင့် နာတာရှာကို ရှက်ရွံ့ စွာ မော့ကြည့်လိုက်၏။ ထို့နောက် ၎င်း၏တစ်ဝက် ပွင့် ၍ နီရဲလျက်ရှိသော အထက်နှုတ်ခမ်းသည် တရွရွတုန်လာ ရာမှ နာတာရှာ၏ ရင်ခွင်တွင် ခေါင်းအပ်ကာ ကျိတ်၍ ငိုလျက် ရှိလေသည်။

ထို့နောက်၌ကား "ဘိုးအေချစ်"မင်းသားလေးသည် ၎င်း၏စာပြဆရာ ဒီဆေး လ်ကိုသော် လည်းကောင်း၊ မိမိ အား ယုယုယယ ပွေ့ဖက်လေ့ရှိသော် မြို့စား ကတော်ကြီးကို လည်းကောင်း ရှောင်ကွင်းကာ တစ်ယောက်တည်း ထိုင် နေ တတ်သည်။ သို့မဟုတ်လျှင်လည်း မင်းသမီးကလေး မေရီထံသို့သော် လည်းကောင်း၊ မိမိအရီးတော်ထက်ပင် ချစ်ခင်မိနေသည့် နာတာရှာထံသို့သော် လည်းကောင်း တိတ်တဆိတ်ရောက်လာကာ ၎င်းတို့အနီးတွင် တိတ်ဆိတ် ကြောက်ရွံ့စွာ ကပ်လျက်သား ထိုင်နေတတ်လေသည်။

မင်းသားကလေး အင်ဒရေခန်းဆောင်မှ ထွက်လာ သောအခါတွင် မင်းသမီး ကလေးမေရီသည် နာတာရှာ၏ မျက်နှာတွင် ဖော်ပြခဲ့သော အဓိပ္ပာယ်ကို ကောင်း စွာ နားလည်ခဲ့လေပြီ။ မင်းသားကလေးအင်အရေအတွက် မျှော်လင့်ချက်ရှိသေး သည်ဟူသော စကားမျိုးကိုလည်း နာတာရှာအား ပြောဆိုခြင်းမပြုတော့ချေ။ မင်းသမီးကလေး  မေရီသည် မင်းသားလေးအင်ဒရေ၏ ခုတင်ဘေးတွင် နာတာရှာ

နှင့် တစ်လှည့်စီ ထိုင်စောင့်၏။ ငိုကြွေးခြင်း လည်း မပြုတော့ချေ။ သို့ရာတွင် လုံးပါးပါးလျက်ရှိသော မင်းသားကလေး အင်ဒရေ၏အပေါ်သို့ လွှမ်းခြုံလျက် ရှိသော ‘ထာဝရဖြစ်၍ သိမြင်ခြင်းငှာ မစွမ်းသည့် ထိုအရာ” ကို အောက်မေ့ နှလုံးသွင်းကာ အမြဲတစေ ဆုတောင်းလျက် ရှိပေသတည်း။

# အခန်း ၁၆

မင်းသားကလေးအင်ဒရေသည် မိမိဇီဝိန်ချုပ်တော့မည်ဆို ခြင်းကို သိနေရုံမျှ သာမက မိမိဇီဝိန်ချုပ်လျက်ရှိလေပြီ။ တစ်ဝက်တစ်ပျက် ဇီဝိန်ချုပ်ခဲ့လေပြီ ဆိုသည်ကိုလည်း ခံစား မိလေသည်။ မိမိသည် ဤကမ္ဘာမြေလောကကြီးရှိ အရာ ခပ် သိမ်းမှန်သမျှနှင့် ကင်းဝေးလျက်ရှိကာ ဆန်းကြယ်၍ ရွှင်လန်းပေါ့ပါးသော အဖြစ်မျိုးကို ရလျက်ရှိသည်ဟုလည်း သိလျက် ရှိလေသည်။ မင်းသားလေးအင်ဒ ရေသည် အလောသုံးဆယ်ဖြစ်ခြင်း မရှိ။ စိတ်လှုပ်ရှားခြင်းလည်း မရှိဘဲ လာလတ္ တံ့သောအရာကို စောင့်လင့်ခြင်းပြု၏။

မိမိခံစားသိရှိနေရသော ဆန်းကြယ်သည့် ရွှင်လန်းပေါ့ပါး မှုကြောင့် မိမိဘဝ တစ်လျှောက်လုံး အမြဲတစေ ရစ်ဝဲလျက် ရှိသည်ဟု သတိပြုခဲ့မိသော ထိုအရာ၊ ဖောက်ပြန်ခြင်းမရှိ သော၊ ထာဝရဖြစ်သော၊ ဝေးလံသော၊ မသိနိုင်သော ထို အရာ သည် ယခုအချိန်တွင် မိမိအနီးသို့ ရောက်လာခဲ့လေပြီ။

ယခင်တုန်းကမူ မင်းသားကလေးအင်ဒရေသည် လမ်းဆုံးကို တွေး၍ ကြောက်ရွံ့ထိတ်လန့်ခြင်း ဖြစ်ခဲ့သည်။

ကြောက်မက်ဖွယ်ကောင်းလှသည့် သေခြင်းတရားတည်း ဟူသော လမ်းဆုံး ကို မိမိသည် နှစ်ကြိမ်တိုင်တိုင် တွေ့ကြုံ ခဲ့ဖူးပြီ မဟုတ်ပါလော။ သို့ရာတွင် ယခု

တစ်ကြိမ်၌မူ မင်းသားကလေးအင်ဒရေ၌ ထိုကြောက်ရွံ့ထိတ်လန့်ခြင်း မျိုး မရှိတော့ပြီ။

မိမိရှေ့တွင် အမြောက်ကျည်လုံးကြီးတစ်ခု ကျ ရောက်လာကာ ဂျင်သဖွယ် တဝီဝီလည်လျက်ရှိစဉ်က မင်းသားကလေးအင်ဒရေသည် သေခြင်းတရားကို ပထမ ဆုံးအကြိမ် ရင်ဆိုင်ခဲ့ရဖူးသည်။ ထိုစဉ်က ၎င်းသည် ထွန်ရေးတို့ အလှိုင်းလှိုင်းထလျက်ရှိသော လယ်ကွင်း ပြင်ကြီးကို လည်းကောင်း၊ ချုံနွယ်တို့ကို လည်းကောင်း၊ ကောင်းကင်ကြီးကို လည်းကောင်း ကြည့်ကာ မိမိသည် သေခြင်း တရားနှင့် မျက်နှာချင်းဆိုင်နေရလေပြီဟု သိခဲ့ ဖူးသည်။ ဒဏ်ရာကြောင့် သတိမေ့မြောသွားရာမှ သတိပြန် လည်လာခဲ့၍ ထာဝရလည်းဖြစ်၊ အနှောင်အဖွဲ့လည်းကင်း သည့် မေတ္တာတည်းဟူသော ပန်းဖူးပန်းပွင့် မိမိဝိညာဉ် တွင်း၌ ရုတ်ခြည်း ဖူးပွင့်လာခဲ့သည့်အခါတွင်ကား မိမိ သည် ဘဝတည်းဟူသော အနှောင်အဖွဲ့မှ လွတ်မြောက် ခဲ့လေပြီဟု မင်းသားကလေးအင်ဒရေ ယူဆမိသည်။

သေခြင်းကို ထိတ်လန့်စိုးရွံ့ခြင်းလည်း မဖြစ်။ ထိုအကြောင်း ကို တွေးတောခြင်းလည်း မပြုတော့ချေ။

မိမိဒဏ်ရာရခဲ့၍ အထီးကျန်ဖြစ်ခြင်း၊ နာကျင် သော ဝေဒနာကို ခံစားရခြင်း၊ ကယောင်ကတမ်း ဖြစ်ခြင်း တို့ကို ခံစားလိုက် ရှိစဉ်၌ ကိုယ်ထင်ပြခဲ့သော အမျိုးအစား သစ်ဖြစ်သည့် ထာဝရမေတ္တာတရားကို ပိုမိုသက်ဝင် ယုံ ကြည်လာသည်နှင့် အမျှ မိမိသည် လောကီလူ့ဘုံကြီးနှင့် တဖြည်းဖြည်း ဝေးကွာလာခဲ့သည်ဟု မသိမသာ ခံစားခဲ့ ရသည်။ ဝေနေယျသတ္တဝါအားလုံးကို မေတ္တာထားခြင်း၊ မေတ္တာတရားအတွက် မိမိကိုယ်ကို မိမိ စွန့်လွှတ်အနစ် နာခံခြင်းဟူသည်မှာ တစ်စုံတစ်ယောက်ကို မေတ္တာထား ခြင်း၊ ဤလောကီလူ့ဘုံကြီးတွင် အသက်ရှင်နေထိုင်ရခြင်း စသည့် ကိစ္စများနှင့် ပြဒါးတစ်လမ်း သံတစ်လမ်း ဖြစ် လေသည်။

အကြင်သူတစ်ဦးသည် ထိုမေတ္တာတရားမျိုး ကို တိုး၍တိုး၍ ပွားများနိုင်သောကိုယ် ဖြစ်အံ့၊ ထိုသူသည် ဘဝတဏှာကို ပယ်ခွာနိုင်သောကိုယ်၊ (ဖြစ်ခြင်းနှင့် သေခြင်း)ဇာတိနှင့် မရဏကြားတွင် ရှိသော ကြောက်ဖွယ်လိလိ အဆီးအတားကို ချိုးဖျက်နိုင်သောကိုယ် ဖြစ်လိမ့်မည်သာ ဖြစ်ပေသည်။ (ထိုမေတ္တာတရားမျိုး မပွားများနိုင်လျှင် ဇာတိနှင့် မရဏအကြားမှ အတားအဆီးသည် အလွန် ကြီးလှပါသည်။) ထိုသို့ သေခြင်းတရားကို နှလုံးသွင်းခဲ့ စဉ်က "သေလျှင်ကော ဘာထူးသေးသနည်း။ သေရသော် မှ ကောင်းသေး၏"ဟု မင်းသားကလေးအင်ဒရေအောက် မေ့မိခဲ့သေးသည်။

သို့ရာတွင် မီတစ်ရှီရွာတွင် ညစခန်းချကြ၍ ကယောင်ကတမ်းဖြစ်လျက်ရှိစဉ် မိမိတမ်းတမျှော်လင့်ခဲ့ သူကို မိမိရှေ့တွင် တွေ့မြင်လိုက်ရလျက် ၎င်း၏လက်ခုံကို နမ်းရှုပ်ခြင်း၊ ချိုသာကြည်နူးသော မျက်ရည်တို့ ကျဆင်းခဲ့ရခြင်း စသည့် အဖြစ်တို့ကို ကြုံတွေ့ရပြန်သော အခါတွင်မူကား တစ်စုံတစ်ယောက်သော မိန်းမတစ်ဦးကို ချစ်သော အချစ်စိတ်သည် ၎င်း၏ နှလုံးသည်းပွတ်ထဲ၌ မသိမသာဝင်ရောက်လာခဲ့ပြန်ကာ ဘဝကို ခုံမင်တွယ်တာ သောစိတ်သည် တစ်ဖန် ပြန်၍ပေါ်လာပြန်လေသည်။ ထိုသည်နှင့် တစ်ပြိုင်နက် ၎င်း၏စိတ်သည် ယောက်ယက်ခတ် လှုပ်ရှားလာခဲ့ပြန်သည်။ ဘိုရိုဒီနိုတိုက်ပွဲအပြီး စစ်မြေ ပြင်သူနာပြု စခန်းတွင် အနာတိုလီနှင့် တွေ့ခဲ့ရပုံကို အမှတ် ရလာပြန်ကာ ထိုစဉ်က ဖြစ်ပေါ်ခဲ့ဖူးသော မုဒိတာစိတ်မျိုး ကို နှလုံးသွင်းကြည့်ပြန်သည်။ သို့ရာတွင် ထိုစဉ်က စိတ်မျိုးကို နှလုံးသွင်းမရတော့ပြီ။ အနာတိုလီသည် ယခုတိုင် အသက်ရှင်နေသေးသလော ဟူသော အမေးသည် ၎င်းကို ဖိစီးနှိပ်စက်လျက် ရှိလေသည်။ ထိုမေးခွန်းကို ထုတ်ဖော်မေးမြန်းခြင်းကား မပြုဝံ့ချေ။

သို့ဖြင့် မင်းသားကလေးအင်ဒရေ၏ အနာရောဂါ သည် ဖြစ်ရိုးဖြစ်စဉ် လမ်းစဉ်အတိုင်း ဖြစ်ပေါ်လျက်ရှိလေ သည်။ သို့ရာတွင် "ခုလို ရုတ်တရက် ဖြစ်လာတော့တာ ပါပဲ"ဟူသော နာတာရှာပြောသည့် အခြေအနေမျိုးကား မင်းသမီးလေးမေရီ မရောက်မီ နှစ်ရက်အလိုတွင် ဖြစ် ပေါ်လာခဲ့ခြင်း ဖြစ်လေ သည်။ ထိုအခြေအနေကား (သေ ခြင်းနှင့် သေခြင်း) ဓာတိနှင့် မရဏတို့ သူနိုင်ငါ နိုင်တိုက် ကြသော နောက်ဆုံးတိုက်ပွဲ ဖြစ်၏။ ထိုတိုက်ပွဲ၌ သေ ခြင်းတရားသည် တံခွန်စိုက်ခဲ့လေပြီ။ နာတာရှာအား ချစ်ခင်မြစ်နိုးခြင်းဟူသော ပုံသဏ္ဌာန်တစ်မျိုး ဖြင့် ပေါ်လာ သည့် လူ့ဘဝကြီးကို မိမိသည် ယခုတိုင် တွယ်တာ တန်ဖိုးထားလျက် ရှိသေးသည်တကားဟု ရုတ်တရက် သဘောပေါက်လာခဲ့သော အချိန်မှာ ထိုအချိန် ပင် ဖြစ် လေသည်။ သိနားလည်နိုင်ခြင်းမရှိသော အရာကို ကြောက် ရွံ့ထိတ်လန့် ခြင်း ဖြစ်သည့် အကြိမ်မှာလည်း ထိုအကြိမ် သည် နောက်ဆုံးအကြိမ်ပင် ဖြစ်လေ သည်။ (အဆုံးစွန် ၌ ထိုအကြောက်တရားကို မင်းသားကလေး အောင်နိုင် ခဲ့ ပါသည်။) ညချမ်းချိန်ဖြစ်၏။ ညစာစားပြီးလျှင် ထုံးစံအတိုင်း မင်းသားကလေးအင် ဒရေမှာ အဖျားသွေးတက်လျက် ရှိ သည်။ ၎င်း၏အတွေးများသည် ထူးထူးခြားခြား ကြည်လင်  လျက်ရှိသည်။ ဆွန်ယာသည် ၎င်းအနီးရှိ စားပွဲတစ်လုံး တွင် ထိုင် လျက်ရှိ၏။ မင်းသားကလေးအင်ဒရေမှာ ငိုက် မျဉ်းစပြုလာခဲ့လေပြီ။ မင်းသား ကလေးအင်ဒရေမှာ ထိတ် ခနဲ ဝမ်းသာသွား၏။

"ဟော သူရောက်လာပြီ'မင်းသားကလေး အင်ဒရေ တွေး၏။

မှန်ပါသည်။ နာတာရှာသည် ခန်းဆောင်တွင်းသို့ တိတ်ဆိတ်စွာ ဝင် ရောက်လာပြီးနောက် ဆွန်ယာနေရာ တွင် ဝင်ထိုင်လိုက်သည်။

နာတာရှာ စတင်ပြုစုသည့် အချိန်မှစ၍ နာတာ ရှာ မိမိအနီးသို့ ရောက်ရှိ လာခြင်းကို မင်းသားကလေး အင်ဒရေ အလိုလို သိတတ်နေလေပြီ။ နာတာ

ရှာသည် မင်းသားကလေးအင်ဒရေ၏ ခုတင်နှင့် ဘေးချင်းယှဉ်ချ ထားသော လက်တင်ထိုင်ဖုံတွင် ထိုင်လျက်ရှိကာ ဖယောင်း တိုင်မီးကို မင်းသားကလေးအင်ဒရေအပေါ် ထိုးကျခြင်း မရှိအောင် ကာပေးလိုက်ပြီး ခြေစွပ်တစ်ဖက်ကို ထိုးလျက်ရှိ၏။ ရေးအဘွားကြီးများသည် လူနာစောင့်ရင်း ခြေစွပ် ထိုးလေ့ရှိကြကြောင်း၊ လူနာစောင့်ရာတွင် ၎င်းတို့ကို မည်သူမျှ မီမည်မထင်ကြောင်း၊ ခြေစွပ်ထိုးခြင်းသည် စိတ်တည်ငြိမ်မှုရစေကြောင်း စသဖြင့် မင်းသားကလေး အင်ဒရေ တစ်ခါက အမှတ်မထင် ပြောခဲ့ဖူးရာ ထိုအချိန် မှစ၍ နာတာရှာသည် ခြေစွပ်ထိုးတတ်လာခဲ့ခြင်း ဖြစ်လေ သည်။ နာတာရှာ၏ သေးသွယ်၍ လျင်မြန်စွာ လှုပ်ရှား လျက်ရှိသော လက်ထဲမှ တက်တင်းဇာအပ်နှစ်ချောင်း ပွတ်တိုက်မိသံသည် အသာအယာအပေါ် ထွက်လျက်ရှိ၏။ ငုံ့ထားရင်းက တစ်စုံတစ်ရာကို စဉ်းစားလျက် ရှိဟန်တူ သော နာတာရှာ၏ မျက်နှာကို ဘေးစောင်းတိုက် ထင် ရှားစွာ မြင်နေရ၏။ နာတာရှာက ကိုယ်ကိုလှုပ်သဖြင့် သိုးမွေးလုံးသည် ဒူးပေါ်မှကျသွား၏။ နာတာရှာသည် မင်းသားကလေးအင်ဒရေကို တစ်ချက်မျှ လှမ်းကြည့်၍ ဖယောင်းတိုင်မီးကို လက်ဖြင့် ကာထားရင်း ပျော့ပျောင်း သေချာသော လှုပ်ရှားမှုဖြင့် ကုန်းကာ သိုးမွေးလုံးကို ဂရုတစိုက်ကောက်ယူလိုက်ပြီးနောက် ယခင်က နေမြဲ ပုံဏ္ဍာန်အတိုင်း ခြေစွပ်ကို ဆက်ထိုးလျက်ရှိသည်။

မင်းသားကလေး အင်ဒရေသည် တုတ်တုတ်မျှ မလှုပ်ဘဲ နာတာရှာကို ကြည့်လျက် ရှိသည်။ နာတာရှာ  သည် သိုးမွေးလုံးကို ကုန်းကောက်ပြီးနောက် အသက် ပြင်းပြင်းရှူလိုဟန်ရှိသော်လည်း ချုပ်တည်းထားကာ သတိ ကြီးစွာ ထား၍ ရှူလျက်ရှိခြင်းကို မင်းသားကလေး အင်ဒရေ မြင်ရသည်။

ထရွိုင်ဇာဘုန်းကြီးကျောင်းတွင် စခန်းချခဲ့စဉ်က ၎င်းတို့နှစ်ဦးသည် အတိတ် အကြောင်းကို ပြန်ပြောင်း ပြောခဲ့ပြီးကြလေပြီ။ မိမိ ဒဏ်ရာရခဲ့ခြင်းကြောင့် မိမိတို့ နှစ်ဦး ယခုကဲ့သို့ ပြန်လည်ဆုံစည်းခဲ့ကြရခြင်းဖြစ်ကြောင်း ထို့ကြောင့် မိမိသာ

အသက်ရှင်ခဲ့ပါလျှင် ဒဏ်ရာရအောင် လုပ်ပေးခဲ့သည့် ဘုရားသခင်ကို အမြဲတမ်း ကျေးဇူးတင် နေတော့မည်ဖြစ်ကြောင်းဖြင့် ထိုစဉ်က မင်းသားကလေး အင်ဒရေက ပြောခဲ့၏။ သို့ရာတွင် ထိုနောက်၌ကား ၎င်းတို့နှစ်ယောက်သည် အနာဂတ် အကြောင်းကို ပြော ဆိုခြင်း မပြုကြတော့ချေ။

"ဒါဟာ ဖြစ်နိုင်သလား၊ မဖြစ်နိုင်တော့ဘူးလား" - မင်းသားကလေး အင်ဒ ရေသည် နာတာရှာကို ကြည့်ကာ သံမဏိအပ်များ အသာအယာ ပွတ်တိုက်သံကို နားထောင် ရင်း တွေးမိ၏။ "ငါတို့နှစ်ယောက်ဟာ တွေ့ရုံသာတွေ့ပြီး သေကွဲကွဲရ တော့မယ်ဆိုတာ တကယ်ပဲလား။ ကံတရားဟာ ဒီလောက်ပဲ ရက်စက်သလား။ ဘဝရဲ့ အမှန်တရားကို ငါမြင်တာဟာ ဘဝရဲ့ အမှားတွေထဲမှာ တစ်သက်လုံး အချိန်ကုန်ခဲ့ရပါပေါ့လားလို့ သိရရုံသက်သက်ပဲလား။ ငါဟာ ကမ္ဘာလောကထဲမှာ ရှိသမျှ အရာခပ်သိမ်းထက် နာတာရှာကို ပိုပြီးချစ်ခဲ့ရတယ်။ ကဲ သူ့ကို ဒီမျှလောက် ချစ်ပါပြီတဲ့။ ငါ ဘာတတ်နိုင်ဦးမှာလဲ"

မင်းသားကလေး အင်ဒရေသည် ဤသို့တွေးကာ ရောဂါဝေဒနာကို ခံစားခဲ့ရ စဉ်တစ်လျှောက်လုံး အကျင့် ပါနေပြီဖြစ်သည့်အလျောက် ယောင်၍ ညည်းလိုက်မိ သည်။

၎င်း၏ ညည်းသံကို ကြားသောအခါ၌ နာတာ ရှာသည် ထိုးလက်စ ခြေစွပ် ကိုချကာ ၎င်း၏အနီးသို့ ကပ်လာ၏။ မင်းသားကလေးအင်ဒရေ၏ တောက်ပ လျက် ရှိသော မျက်လုံးများကို မြင်သောအခါ၌ ၎င်းအနီးသို့ ရုတ်တရက် သွက်လက်စွာ လျှောက်လာခဲ့ကာ အပေါ်မှမိုး ကြည့်လိုက်သည်။

"ဟင် အစ်ကို မအိပ်သေးဘူးလား"

”ဟင့်အင် မအိပ်ပါဘူး။ တစ်ချိန်လုံး နာတာရှာ ကို အစ်ကိုကြည့်နေတာ နာတာရှာလာတာကို အစ်ကို အလိုလိုသိနေတယ်။ နာတာရှာရောက်လာရင် အစ်ကို စိတ်တွေဟာ တည်ငြိမ်းပြီး နူးညံ့လာတယ်။ အလင်းရောင် ကို မြင်လိုက်ရသလိုပဲ။ အစ်ကိုဝမ်းသာတယ် နာတာရှာ။ ဝမ်းသာလွန်းလို့ ငိုချင်တယ်”

နာတာရှာသည် အနားသို့ တိုးလာ၏။ ၎င်း၏ မျက်နှာကလေးသည်လည်း ပီတိလွှမ်းကာ ဝင်းထိန်လျက် ရှိလေသည်။

“နာတာရှာ၊ နာတာရှာ့ကို အစ်ကိုသိပ်ချစ်တယ် နာတာရှာ၊ ကမ္ဘာလောက ကြီးမှာ ရှိရှိသမျှအားလုံးထက် ချစ်တယ်”

“နာတာရှာ့ကို ဟုတ်လား” နာတာရှာ ခေတ္တမျှ တစ်ဖက်သို့ လှည့်လိုက်သည်။ “ဘာဖြစ်လို့ ဒီလောက် ချစ်ရတာလဲဟင်”

နာတာရှာက မေးလိုက်၏။ , “ဘာဖြစ်လို့မှန်းတော့ မသိဘူး နာတာရှာ။ နေပါဦး နာတာရှာ ဘယ်လိုထင်သလဲ။ နာတာရှာရဲ့ စိတ်ထဲမှာ ရှိတာပြောပြစမ်းပါ။ ဘယ်လိုခံစားရသလဲ။ လူ့လောက ကြီးမှာ အစ်ကိုနေရပါဦးမလားဟင်။ ဘယ်လို ထင်သလဲ”

“အို၊ အစ်ကိုနေရမှာပေါ့။ ဘာဖြစ်လို့ မနေရမှာလဲ” နာတာရှာက စိတ်အားထက်သန်စွာဖြင့် မင်းသားကလေး အင်ဒရေ၏ လက်နှစ်ဖက်ကိုကိုင်ကာ ခပ်ကျယ်ကျယ် ကလေးပြောလိုက်သည်။

မင်းသားကလေးအင်ဒရေသည် အတန်ကြာမျှ ငြိမ်သက်သွား၏။

“နေရဦးမယ်ဆိုရင်တော့ သိပ်ကောင်းမှာပဲနော်” မင်းသားကလေး အင်ဒရေက နာတာရှာလက်ကို ယူကာ နမ်းလိုက်သည် ။

နာတာရှာသည် ဝမ်းသာစိတ်လှုပ်ရှားလျက်ရှိသည်။ သို့ရာတွင် စိတ်ကို ထိန်းကာ မင်းသားကလေး အင်ဒရေ ငြိမ်သက်စွာ နေရမည် ဆိုခြင်းကို အမှတ်ရလာသည်။

"ကဲ၊ အစ်ကို မအိပ်ရသေးဘူးနော်" နာတာရှာက ဝမ်းသာမှုကို ချုပ်တည်း၍ ပြောလိုက်၏။ ကြိုးစားပြီး အိပ်လိုက်ဦးနော်အစ်ကို"

မင်းသားကလေးအင်ဒရေသည် နာတာရှာလက်ကို  ညှစ်လိုက်ပြီးနော် လွှတ်လိုက်သည်။ နာတာရှာသည် ဖယောင်းတိုင်ထွန်းထားရာသို့ ပြန်သွားကာ ယခင် အနေအထားအတိုင်း ထိုင်လျက်ရှိ၏။ နာတာရှာသည် မင်းသားကလေး အင်ဒရေဘက်သို့ နှစ်ကြိမ်မျှ လှမ်းကြည့် မိသည်။ ၎င်း၏ မျက်လုံးများသည် မိမိအား ရွှန်းရွှန်းစားစား ကြည့်လျက်ရှိသော မင်းသားကလေးအင်ဒရေ၏ မျက်လုံးများနှင့် ဆုံမိကြ၏။ နာတာရှာသည် တက်တင်းထိုးခြင်း ကို ပြန်ကောက်ကာ မပြီးမချင်း မကြည့်တော့ဟု ဆုံးဖြတ် လိုက်သည်။

ခဏကြာလျှင် မင်းသားကလေးအင်ဒရေလည်း မျက်လုံးများကို တကယ်မှိတ်၍ အိပ်ပျော်သွားလေသည်။ မင်းသားကလေး အင်ဒရေသည် ကြာကြာအိပ်မပျော်ချေ။ ခဏကြာလျှင် အေးစက်သော ချွေးစီးကြီးတွေ့ပြန်ကာ လန့်နိုးလာလေသည်။

အိပ်ပျော်လျက်ရှိစဉ်၌လည်း မင်းသားကလေး အင်ဒရေသည် မိမိစိတ်ကို လွှမ်းမိုးထားသော ပြဿနာ ကြီးကို စဉ်းစားလျက်ရှိလေသည်။ ၎င်းမှာ (ရှင်ခြင်းနှင့် သေခြင်း) ဇာတိနှင့် မရဏသဘောတို့ပင် ဖြစ်လေသည်။

"အချစ်တဲ့၊ အချစ်ဆိုတာ ဘာလဲ" မင်းသားက လေး အင်ဒရေသည် တွေးတောလျက်ရှိ၏။

“အချစ်ဟာ သေခြင်းကို ဟန့်တားထားတယ်။ အချစ်ဟာ ဘဝပဲ။ အရာအားလုံးကို အရာခပ်သိမ်းကို ငါသိနေခြင်းဟာ အချစ်ကြောင့် နားလည်သိရှိနေခြင်းသာ ဖြစ်တယ်။ အရာအားလုံးတည်ရှိနေကြခြင်း၊ အရာခပ်သိမ်း တည်ရှိနေခြင်းဟာ အချစ်ကြောင့် တည်ရှိနေခြင်းသာ ဖြစ်တယ်။ အရာအားလုံးဟာ အချစ်ကြောင့် ပေါင်းစည်း နေကြခြင်းသာဖြစ်တယ်။ ချစ်ခြင်းမေတ္တာဟာ ထာဝရဘုရားသခင်ပဲ ဖြစ်တယ်။ ဒါကြောင့် သေခြင်းဆိုတာဟာ လဲ ချစ်ခြင်းမေတ္တာရဲ့ မြူမှုန်ကလေးတစ်မှုန်သာ ဖြစ်တဲ့ ငါ့အဖို့ ချစ်ခြင်းမေတ္တာ ထာဝရပေါက်ဖွားကိန်းဝပ်ရာ အရပ်ကို ပြန်သွားခြင်းလို့ အဓိပ္ပာယ်ထွက်တယ်”

ထိုအတွေးများသည် မင်းသားကလေး အင်ဒရေ ' အား စိတ်သက်သာမှုကို ပေးကြ၏။ သို့ရာတွင် ၎င်းတို့မှာ ( အတွေးမျှသာဖြစ်လေသည်။ ထိုအတွေးများထဲတွင် တစ်စုံ တစ်ရာလိုနေသည်ဟု ထင်မှတ်မိ၏။ ကြည်လင်ခြင်းလည်း မရှိလှချေ။ ထိုအတွေးများသည် တစ်ဖက်သတ်ကျလွန်း ပုဂ္ဂလဓိဋ္ဌာန်ကျလွန်းသည်ဟု ထင်မိ၏။ အတ္တနောမတိမျှ သာဟု ထင်မိ၏။ ထိုသည်နှင့် ယခင်ကနည်းတူ ဂနာမငြိမ်ဖြစ်ခြင်း၊ ဝိတက်ဝိစာရ ဖြစ်ရခြင်းတို့သည် အပေါ်ပေါက် လာကြပြန်သည်။ ထို့နောက် အိပ်ပျော်သွားပြန်သည်။

မင်းသားကလေးအင်ဒရေသည် အိပ်မက်တစ်ခု မြင်မက်သည်။ အိမ်မက်ထဲ၌ မိမိမှာ ကျန်းမာပကတိရှိကာ ယခုရောက်လျက်ရှိသော ခန်းဆောင်ထဲတွင် ရောက်နေ သည်။ ခြားနားခြင်းမရှိ။ ပီတိသေးသေး လူများစွာတို့ သည် မိမိရှေ့တွင် ပေါ်လာကြကုန်သည်။ မိမိသည် ထို လူများနှင့် အသေးအဖွဲ့ကိစ္စများကို ပြောဆိုဆွေးနွေးခြင်း ပြုလျက်ရှိသည်။ ၎င်းတို့သည် တစ်နေရာသို့ ခရီးထွက်ရန် ပြင်ဆင်လျက်ရှိသည်။ ၎င်းတို့နှင့် စကားပြောခြင်းမှာ သေးနပ်သိမ်ဖျင်းလှသည်။ မိမိတွင် အရေးကြီးသော အခြား ကိစ္စများစွာရှိသည်ဟု မင်းသားကလေးအင်ဒရေ ဝိုးတိုးဝါးတာ ထင်မှတ်လျက်ရှိသည်။ သို့ရာတွင် မိမိသည် ၎င်းတို့နှင့် ဆက်လက်

စကားပြောလျက်ရှိ၍ မိမိက အနှစ် သာရ ကင်းမဲ့သော "ပြက်လုံးများကို ပြောဆိုသည့်အခါ ၌ ၎င်းတို့က သဘောကျခြင်းကို တွေ့ရ၏၊ ၎င်းတို့သည် တဖြည်းဖြည်း ကြက်ပျောက်ငှက်ပျောက် ပျောက်ကုန်ကြ ကာ ပြဿနာကြီးမှာ ခန်းဆောင်တံခါးကြီးကို မည်သို့ လုံလုံခြုံခြုံဖြစ်အောင် ပိတ်မည်နည်းဆိုသည့် ပြဿနာ ဖြစ်သည်။ မင်းသားကလေး အင်ဒရေသည် တံခါးကြီးကို မင်းတုပ်ချပိတ်ရန် ထိုင်ရာမှ ထလာခဲ့၏။ အရာခပ်သိမ်း သည် ထိုတံခါးကြီးကို အချိန်မီ ပိတ်နိုင် မပိတ်နိုင်ဆိုသည့် အချက်ပေါ်တွင် တည်လျက်ရှိ၏။ မင်းသားကလေး အင် ဒရေသည် ထကာ ခပ်ကုပ်ကုပ် လျှောက်လာခဲ့သည်။ သို့ရာတွင် ခြေထောက်များမှာ လှုပ်ရှားရန် ငြင်းဆန်လျက် ရှိကြသည်။ ရှိရှိသမျှခွန်းအားသတ္တိများကို စုစည်းကာ ကြိုးစားသော်လည်း ထိုတံခါးကြီးကို အချိန်မီ မပိတ်နိုင် တော့ပြီဟု မင်းသားကလေးအင်ဒရေ ယူဆမိသည်။ ထို အခါတွင် ပြင်းစွာ ထိတ်လန့်တုန်လှုပ်ခြင်း ဖြစ်လာသည်။ ၎င်းမှာ သေခြင်းတရားကို ကြောက်လန့်တုန်လှုပ်ခြင်း ဖြစ်လေသည်။ "ထိုအရာ" သည် တံခါးကြီး၏နောက်တွင် ရပ်လျက်ရှိသည်။ မိမိက ဒယီးဒယိုင်ဖြင့် တံခါးဆီသို့ ဒရွက်ဆွဲသွားလျက် ရှိသည့်အချိန်၌ တံခါးပြင်ဘက်တွင် ရှိသော တစ်စုံတစ်ရာသော ကြောက်ဖွယ်ကြီးတစ်ခုသည်  တံခါးကြီးကို အတင်းတွန်းဖွင့်ကာ အထဲသို့ ဝင်ရန် ကြိုးစား လျက်ရှိသည်။ လူသားနှင့် အပ်စပ်ခြင်းမရှိ၊ အသက်ရှင်နေ ထိုင်ခြင်းနှင့် စပ်ဆိုင်ခြင်းမရှိသော သေမင်းသည် ထိုတံခါး ကို ရိုက်ချိုးဖွင့်လျက် ရှိလေပြီ။ ၎င်းကိုမောင်းထုတ်ရချေ တော့မည်။ မင်းသားကလေးအင်ဒရေသည် တံခါးကို လှမ်းကိုင်ကာ ပြန်၍ပိတ်သွားအောင် (မင်းတုပ်ချရန်ကား မဖြစ်နိုင်တော့ပါ။ နောက်ဆုံးအကြိမ်ကြိုးစားလျက်ရှိသည်။ သို့ရာတွင် ၎င်းကြိုးစားမှုသည် အားနည်းချည့်နဲ့လာခဲ့လေ ပြီ။ ယိမ်းယိုင်လာခဲ့လေပြီ။ ထိုကြောက်ဖွယ်ကြီးက တွန်း လိုက်သည်နှင့် တံခါးကြီးသည် ပွင့်သွားကာ ပြန်ပိတ်သွား ပြန်သည်။

တစ်ဖန် ထိုအရာက အပြင်ဘက်မှ တွန်းပြန်သည်။ မင်းသာကလေးအင်ခ ရေ၏ ကြိုးပမ်းအားထုတ်မှုဟူသမျှ သည် အချည်းနှီးဖြစ်ခဲ့ရလေပြီ။ တံခါးရွက်နှစ် ချပ်သည် တိတ်ဆိတ်စွာ ပွင့်သွားကာ "ထိုအရာ" သည် ဝင်ရောက် လာခဲ့လေ သည်။ ထိုအရာကား သေမင်းပင်တည်း။ သို့ ဖြင့် မင်းသားကလေး အင်ဒရေသည် ဇီဝိန်ချုပ်ခဲ့လေသည်။

သို့ရာတွင် ဇီဝိန်ချုပ်သွားသည့် တဒင်္ဂ၌ မိမိသည် အိပ်ပျော်နေခြင်း ဖြစ်သည် ဟု မင်းသားကလေး အင် ဒရေ သတိရလိုက်၍ ဇီဝိန်ချုပ်သွားသည်။ ထိုတဒင်္ဂလေး ၌ပင် မင်းသားကလေး အင်ဒရေသည် ရုန်းကန်လူးလွန့် ကာ အိပ်ပျော်ရာမှ နိုးလာ ခဲ့သည်။

"ဟုတ်တယ်။ သေခြင်းဆိုတာ ဒါပဲ။ ငါသေသွား ပြီ ငါနိုးကြားလာတယ်။ ဟုတ်တယ် သေခြင်းဆိုတာ နိုးကြားခြင်းတစ်မျိုးသာ ဖြစ်တယ်"

ထိုအတွေးဝင်လာသည်နှင့် တစ်ပြိုင်နက် မင်းသား ကလေး အင်ဒရေ၏ ဝိညာဉ်သည် ပေါ့ပါးသွားသည်။ မသိနိုင်သောအရာကို ဖုံးအုပ်ထားသည့် ကန့်လန့်ကာကြီး သည် ၎င်း၏စိတ်မျက်စိရှေ့တွင် ပွင့်သွားသည်။ မိမိကိုယ် တွင်း တွင် ထိုအချိန်၌ ကျန်ရှိနေသေးသော အစွမ်းသတ္တိ တို့သည် လွတ်မြောက်သွား သည်ဟု ထင်ရသည်။ ထိုအချိန် မှစ၍ ထူးခြားဆန်းကြယ်သော ပေါ့ပါးမှုတစ်မျိုး ကို ခံစား ရလေသည်။

အေးစက်သော ချွေးသီးကြီးများဖြင့် နိုးလာကာ ခုတင်ပေါ်တွင် လှုပ်ရှားလာ သည့်အခါ၌ နာတာရှာ ရောက် လာကာ မည်သို့ဖြစ်သနည်းဟု မေးမြန်းခြင်းပြု၏။ မင်းသား ကလေး အင်ဒရေသည် မည်သို့မျှ မဖြေဘဲ မျက်လုံးကြီး အကြောင်သား ဖြင့် ကြည့်နေသည်။ နာတာရှား၏ အမေး ကိုလည်း နားလည်ခြင်း မရှိတော့ချေ။

ဤကား မင်းသမီးလေးမေရီ မရောက်မီ နှစ်ရက်အလို တွင် ဖြစ်ပျက်ခဲ့သော အချင်းအရာဖြစ်သည်။ ထိုနေ့မှ စ၍ မင်းသားကလေးအင်ဒရေ၏ အဖျားရောဂါမှာ ငန်းသန္နိပါတ်ဖောက်လာပြီဖြစ်ကြောင်းဖြင့် သမားတော်က ပြောပြ၏။ သို့ရာတွင် နာတာရှာသည် သမားတော်၏ စကားကို စိတ်မဝင်စားတော့ချေ။ နာတာရှာသည် ကြောက် ဖွယ်ကောင်းလှသော စိတ်ချောက်ချားမှုတို့ကို ထင်ရှားစွာ မြင်နေရလေပြီ။

ထိုနေ့အိပ်ရာမှ နိုးကြာလာချိန်မှစ၍ ဘဝမှ နိုးကြား လာခြင်းတစ်မျိုးသည်လည်း မင်းသားကလေး အင်ဒရေ အဖို့ အစပြုခဲ့လေပြီ။ အိပ်ရာမှ နိုးကြားလာသော ကာလ တစ်ခုသည် အိပ်မက်တစ်ခု၏ ကာလနှင့် နှိုင်းစာသော် ရှည်ကြာလွန်းလှသည်ဟု ထင်ရသည်နည်းတူ ဘဝတစ်ခု လုံးနှင့် နှိုင်းစာလျှင် ယခုကဲ့သို့ နိုးကြားလျက် ရှိခြင်းသည် လည်း ရှည်ကြာလွန်းလှသည်ဟု ထင်မိသည်။

ဤသို့ တဖြည်းဖြည်း နိုးကြားလျက်ရှိသော ကာလ ၌ ထိပ်လန့်တုန်လှုပ်စရာ၊ ချောက်ချားစရာဆို၍လည်း ဘာမျှမရှိတော့ချေ။

ဤသို့ဖြင့် မင်းသားကလေးအင်ဒရေ၏ နောက်ဆုံး နေ့များနှင့် နာရီများသည် ဖြစ်ရိုးဖြစ်စဉ်အတိုင်း လွယ်ကူ ရှင်းလင်းစွာ ကုန်လွန်ခဲ့ကြသည်။ ၎င်း၏အပါးတွင် အမြဲ ရှိကြသည့် မင်းသမီးလေးမေရီနှင့် နာတာရှာတို့သည် ဤအချက်ကို ခံစားမိကြ၏။ ထိုအတွင်း၌ ၎င်းတို့နှစ် ယောက်သည် ငိုကြွေးခြင်းလည်း မပြုကြ၊ တုန်လှုပ်ချောက် ချားခြင်းလည်း မဖြစ်ကြတော့ချေ။ ဤနောက်ဆုံးရက်များ အတောအတွင်း၌ ၎င်းတို့သည် မင်းသားကလေး အင်ဒရေ အား ပြုစုစောင့်ရှောက်လျက်ရှိကြသည်ဟုလည်း ယူဆခြင်း မပြုကြတော့ဘဲ(တကယ်၌ မင်းသားကလေးအင်ဒရေဟူ၍ မရှိတော့ပြီ။ မင်းသားကလေးအင်ဒရေနှင့် အနီးစပ်ဆုံး ဟု ၎င်းတို့ကို သတိပေ.လျက်ရှိသော အရာဖြစ်သည်။  ၎င်း၏ ရုပ်ခန္ဓာကြီးကို

သာ ပြုစုစောင့်ရှောက်လျက် ရှိသည် ဟု ခံစားမိကြလေသည်။ ၎င်းတို့နှစ်ဦးသည် ထိုတရား သဘောကို ခိုင်မြဲစွာ ဆုပ်ကိုင်မိကြသည်ဖြစ်ရကား သေခြင်း တရား၏ ပြင်ပသဏ္ဍာန်နှင့် ကြောက်မက်ဖွယ် အနက် အဓိပ္ပာယ်တို့ကို ထင်မြင်ခြင်းလည်း မရှိကြတော့။ မိမိတို့၏ သောကပရိဒေသကို ငြိမ်းသတ်ရန် လိုသည်ဟုလည်း ယူဆခြင်းမရှိကြတော့ချေ။ ၎င်းတို့နှစ်ဦးသည် မင်းသား ကလေးအင်ဒရေ၏ရှေ့ တွင်သော်လည်းကောင်း၊ မျက်ကွယ် တွင်သော်လည်းကောင်း ငိုကြွေးခြင်းမပြု တော့။ မင်းသား ကလေးအင်ဒရေ၏ အကြောင်းကိုလည်း တစ်ဦးတစ်ဦး ပြောဆို ခြင်း မပြုကြတော့ချေ။ ၎င်းတို့ နားလည်သဘော ပေါက်ခဲ့သော အခြင်းအရာကို စကားလုံးများဖြင့် ဖော်ပြ ခြင်းငှာ မစွမ်းဟုလည်း ယူဆလျက်ရှိကြလေသည်။

မင်းသားကလေး အင်ဒရေသည် တိတ်ဆိတ်ငြိမ် သက်စွာ၊ နက်ရှိုင်းသည် ထက် နက်ရှိုင်းစွာ ၎င်းတို့နှင့် ဝေးရာသို့ ချုပ်ငြိမ်းပျောက်ကွယ်လျက် ရှိခြင်းကို ၎င်း တို့ မြင်နေကြရသည် ဤအတိုင်းပင်ဖြစ်ရသည်။ ဤသို့ဖြစ်ခြင်း သည် သဘာဝကျ သည်ဟုလည်း သိကြပေသည်။

မင်းသားကလေးအင်ဒရေကို သရဏဂုံတင်ခြင်း ပြုလေသည်။ နောက်ဆုံး နှုတ်ဆက်ခြင်းအနေဖြင့် အားလုံး က ၎င်းကို လာရောက်ကြည့်ရှုကြသည်။ သား ငယ်ကို ခေါ်ဆောင်လာကြသည့်အခါတွင် မင်းသားကလေး အင် ဒရေသည် သား ငယ်ကို နမ်းရှုပ်ပြီးနောက် တစ်ဖက်သို့ မျက်နှာလွှဲထားလိုက်သည်။ ဤသို့ပြုလုပ် ခြင်းမှာ ဆင်းရဲ ပင်ပန်းခြင်း၊ ဝမ်းနည်းခြင်းကြောင့် မဟုတ်ပါ။ (ဤအချက် ကို မင်းသမီးလေးမေရီနှင့် နာတာရှာတို့ နားလည်ပါသည်) မိမိအား ဤသို့ပြုလုပ်စေ ချင်ကြသည်ဟု ထင်သောကြောင့် သာ ဖြစ်ပါသည်။ ၎င်းတို့က သားငယ်ကို ဆုပေး ရန် ပြော ကြသည့်အခါ၌လည်း မင်းသားကလေးအင်ဒရေသည် ၎င်းတို့ခိုင်းသည့် အတိုင်းပင် လုပ်ပါသည်။ ထို့နောက် မိမိမည်သို့ လုပ်စေချင်ကြသေးသနည်းဟု မေးမြန်းသည့် နှယ် မျက်လုံးအကြောင်သားဖြင့် လှည့်ကြည့်နေသည်။

အသက်ဇီဝိန်ချုပ်ခါနီး နောက်ဆုံးရှန်းကန်လျက် ရှိချိန်တွင် မင်းသမီးလေး မေရီနှင့် နာတာရှာတို့သည် အနီး တွင် ရှိနေကြ၏။

"ဆုံးသွားပြီနော်" မင်းသားကလေးအင်ဒရေ၏ ခန္ဓာကိုယ် မိနစ်အတန်ကြာ လှုပ်ရှားခြင်းမရှိ၏။ ငြိမ်သက် လျက် ရှိကာ ၎င်းတို့ ရှေ့မှောက်မှာပင် အေးစက် လာစ ပြုလာသည့်အခါတွင် မင်းသမီးလေးမေရီက မေးလိုက်၏။ နာတာရှာသည် ထလာကာ အသက်ကင်းမဲ့သော မျက်လုံး များကို ငုံ့ကြည့်ပြီးနောက် မျက်လုံးများ ကို ဆွဲမှိတ်ပေး လိုက်သည်။ နာတာရှာသည် မျက်လုံးများကို မှိတ်ပေးပြီး နမ်းရှုပ် ခြင်းကာ မပြုချေ။ သို့ရာတွင် မင်းသားကလေး အင်ဒရေနှင့် အနီးစပ် အရင်းနှီးဆုံး သောအရာဟု မိမိကို သတိပေးထားနှိုးဆော်လျက်ရှိသော ၎င်း၏ရုပ်ခန္ဓာကြီး ကို ဖက်ထားမိလေသည်။

"အစ်ကို ဘယ်ရောက်သွားပြီလဲဟင်။ ခုအစ်ကို ဘယ်မှာလဲ"

ရုပ်အလောင်းကို သန့်ရှင်းစင်ကြယ်စေကာ အဝတ် အစားလဲပြီးနောက် ခေါင်းတစ်ခုတွင် ထည့်၍ စားပွဲတစ်လုံး ပေါ်တွင် တင်ထားလိုက်ကြသည့်အခါတွင် အားလုံးက လာရောက်နှုတ်ဆက်ကာ ငိုကြွေးကြ၏။

သားတော် "ဘိုးအေချစ်" မင်းသားလေးသည် ငိုကြွေးခြင်းပြု၏။ ၎င်းငိုကြွေး ခြင်းမှာ ၎င်း၏အသည်းနှလုံး တွင် နာကျင်ပူဆွေးကာ နားမလည်နိုင်သောကြောင့် ငို ကြွေးခြင်း ဖြစ်သည်။ မြို့စားကတော်ကြီးနှင့် ဆွန်ယာတို့ ငိုကြွေးခြင်းမှာ နာတာ ရှာကိုသနားခြင်း မင်းသားကလေး အင်ဒရေ လူ့ပြည့်၌မရှိတော့ခြင်းတို့ကြောင့် ဖြစ်လေသည်။ မြို့စားကြီးရော့စတောဗ်လည်း ငိုကြွေးခြင်းပြု၏။ ၎င်း ငိုကြွေးခြင်း မှာ မိမိသည်လည်း မကြာမီတွင် ဤကြောက် မက်ဖွယ်ခရီးကြီးကို သွားရတော့ မည်ဟု သိသောကြောင့် ငိုကြွေးခြင်းဖြစ်လေသည်။

ယခုချိန်၌ မင်းသမီးလေးမေရီနှင့် နာတာရှာတို့ သည်လည်း ငိုကြွေးခြင်းပြု ကြပါသည်။ သို့ရာတွင် ၎င်းတို့ ငိုကြွေးခြင်းမှာ ၎င်းတို့ ကိုယ်စီ၏ ရင်ထဲတွင် တောက် လောင်လျက်ရှိသော ပရိဒေဝမီးကြောင့် ငိုကြွေးခြင်းမဟုတ် ပါ။ မိမိတို့ ရှေ့မှောက်တွင် အနိုင်ယူသွားခဲ့သည့် သေ ခြင်းတရား၏ ထင်သာမြင်သာသော လျှို့ဝှက်နက်နဲမှု ကို သိမြင်ရသည်၌ ထိုအရာကို ကြောက်ရွံ့ခန့်ညားစိတ် ခိုကိုးရာ မဲ့ဖြစ်သော စိတ်စသည်တို့ ၎င်းတို့၏ ဝိညာဉ်ထဲ တွင် ပေါ်ပေါက်လာသောကြောင့် ငိုကြွေးကြခြင်းသာဖြစ် ပါသတည်း။

# အပိုင်း ၁၃

## အခန်း ၁

လူ၏အသိဉာဏ်တရားသည်အဖြစ်အပျက်များ၏အကြောင်း တရားများကို ကုန်စင်အောင် နားလည်သိမြင်နိုင်စွမ်းမရှိ ချေ။ သို့ရာတွင် ထိုအကြောင်းတရား များကို ရှာဖွေလိုသော ဆန္ဒကား လူ၏စိတ်တွင် ကိန်းအောင်းအမြစ်တွယ်လျက် ရှိ၏။ အဖြစ်အပျက်တစ်ခု ဖြစ်လာရခြင်း၌ ရုပ်ထွေးမြား မြောင်လှသော အချက်အလက်များ ရှိတတ်၍ ၎င်းတို့ အားလုံးမှာလည်း တစ်ခုစီ သီးခြားခွဲထုတ် ကြည့်လျှင် အကြောင်းတရားဟု ထင်စရာချည်းသာ ဖြစ်လေသည်။ လူ၏အသိပညာဉာဏ်တရားသည် ဤအချက်ကို ထည့် စဉ်းစားခြင်းမပြုတော့ဘဲ အကြောင်းတရား ဖြစ်တန်ရာ သည်ဟု ၎င်း၏စိတ်တွင် ပထမဆုံးပေါ်လာသော အချက် အလက်တစ်ခုကို ဆွဲထုတ်ကာ "ဤကား အကြောင်း တရားဖြစ် တော့သည်"ဟု ပြောဆိုတတ်လေသည်။ (လူ များ၏ ပြုမူဆောင်ရွက်ချက်များကို လေ့လာရာဖြစ်သော) ရာဇဝင်အဖြစ်အပျက်ကြီးများ အဘယ့်ကြောင့် ပေါ်ပေါက် လာခဲ့ကြရသနည်းဟူသော အမေးပုစ္ဆာကို ဖြေဆိုရန် အားထုတ်ခဲ့ကြရာ၌ ပထမ ဆုံးနှင့် ရှေးဦးအကျဆုံးသော အယူအဆမှာ ၎င်းတို့သည် နတ်သိကြားမင်းများ၏ အလို အရ ပေါ်ပေါက်လာရသည်ဟူသော အယူအဆ ဖြစ်၏။ ဒုတိယအယူအဆမှာ အထင်ရှားဆုံးနေရာတွင် ရပ်တည်ခဲ့ ကြသူ ပုဂ္ဂိုလ်များ (ရာဇဝင်ကျော် လူစွမ်းကောင်းများ) ၏ အလိုဆန္ဒအရ ပေါ်ပေါက်လာရသည်ဟူသော အယူအဆ ဖြစ်လေသည်။ သို့ရာတွင် (တကယ်ကိုယ်တိုင်ကိုယ်ကျ ပါဝင်လုပ်ဆောင်ခဲ့ကြ

သော သာမန်ပြည်သူလူထုကြီး၏ လှုပ်ရှားမှုတည်းဟူသော) ရာဇဝင်အဖြစ်အပျက် တစ်ခု၏ အနှစ်သာရကို သေချာစွာ စူးစမ်း လေ့လာကြည့်မည်ဆိုပါ က ရာဇဝင် ကျော် လူစွမ်းကောင်းတို့၏ အလိုဆန္ဒက ပြည်သူလူထုများကို ချုပ်ကိုင်နေခြင်း မဟုတ်ဘဲ ပြည်သူ လူထုများ၏ ဆန္ဒကသာလျှင် ရာဇဝင် လူ စွမ်းကောင်း တို့အား ချုပ်ကိုင်နေခြင်း ဖြစ်ကြောင်းကို တွေ့ရမည် ဖြစ်လေသည်။ ရာဇဝင်အဖြစ်အပျက် များကို နားလည် သဘောပေါက်ရာ၌ မည်သို့ မည်ပုံ သဘောပေါက်ရမည် ဆိုသည့် အချက်(နည်းလမ်း) သည် ပဓာနမဟုတ်ဟု ထင် ဖွယ်ရှိ၏။ စင်စစ်တွင် ဤအချက် သည် အရေးကြီးပါသည်။ "ကမ္ဘာမြေကြီးသည် မလှုပ်မရှား ရပ်တည်လျက်ရှိ၍ ဂြိုဟ်နက္ခတ်တာရာများက ၎င်းကို လှည့်ပတ် သွားလာနေ ကြခြင်း ဖြစ်သည်" ဟူသော အဆိုအမိန့်နှင့် "ကမ္ဘာမြေကြီး လှုပ်ရှားနေသလော၊ ရပ်တည်နေသလော ဆိုသည်ကိုမူ မသိ။ သို့ရာတွင် ကမ္ဘာမြေကြီးနှင့်တကွ ဂြိုဟ်နက္ခတာရာ များ ရှိ ကြောင်းကိုကား သိသည်" ဟူသော အဆိုအမိန့်တို့ သည် ကွာခြားကြသကဲ့သို့ "အနောက်ဘက်မှ လူများ အရှေ့ဘက်သို့ ရောက်ရှိလာခဲ့ခြင်းသည် နပိုလီယန်၏ အလိုဆန္ဒကြောင့် ဖြစ်ရသည်" ဟူသော အဆိုအမိန့်နှင့် "ထိုအဖြစ်အပျက်ကြီး ပေါ်ပေါက်လာခြင်းမှာ ရှောင်လွှဲမရ သောဆန္ဒ၏ တရားအရ ပေါ်ပေါက်လာခြင်း ဖြစ်သည်" ဆိုသော အဆိုအမိန့်တို့သည်လည်း များစွာကွာခြားလှပါ သည်။ ရာဇဝင်အဖြစ်အပျက်တစ်ခု၌ အကြောင်းတရား တကာတို့၏ မူလ အကြောင်းတရားကြီး တစ်ခုဟူ၍သာ ရှိ၏။ ထိုမှလွဲလျှင် အခြားတစ်ပါးသော အကြောင်းတရား မရှိနိုင်ချေ။ ရှိလည်းမရှိချေ။ သို့ရာတွင် အဖြစ်အပျက်များကို ချုပ်ကိုင်မောင်းနှင်လျက်ရှိသော နိယာမတရားများဟူ၍ ကား ရှိ၏။ ၎င်းတို့အနက် အချို့သော နိယာမတရားများကို ကျွန်ုပ်တို့ နားလည်သိရှိကြသော်လည်း အချို့ သော နိယာမ တရားများကိုမူ ရှိသည်ဟုသာ သိရုံသာသိကြ၍ နားလည် သဘောပေါက်ခြင်းကာ မရှိကြသေးချေ။ ဂြိုဟ်နက္ခတာရာ များ၏ ရွေ့လျားမှု

နိယာမကို သိရှိရန်အတွက် ကမ္ဘာမြေကြီး သည် မလှုပ်မရှားရပ်တည်နေသည် ဟူသော အယူအဆကို စွန့်လွှတ်ခြင်း ပြုရသည့်နည်းတူ ဤနိယာမတရားများ ကို ရှာဖွေတွေ့ ရှိရန်မှာလည်း ရာဇဝင်အဖြစ်အပျက်များ သည် လူပုဂ္ဂိုလ် တစ်စုံတစ်ယောက်၏ အလိုဆန္ဒအရ ဖြစ် သည်ဟူသော အယူအဆကို လုံးဝ စွန့်လွှတ်ရလိမ့်မည် ဖြစ် ပေသည်။

ဘိုရိုဒီနိုတိုက်ပွဲဖြစ်ပွားခြင်း၊ ရန်သူပြင်သစ်တို့ မော်စကိုမြို့ကို သိမ်းပိုက်ခြင်း၊ မော်စကိုမြို့ကြီး မီးလောင် ပြာကျရခြင်း စသည့် အဖြစ်အပျက်များပြီးသည့်နောက်တွင် (ပက္ကရာမြစ်ကိုဖြတ်သန်းချီတက်သည့် တောင်ပံလှုပ်ရှားမှု ဟု ခေါ်ဆိုကြသော) ရာဇန်မှ ကာလူဂါပေတစ်ရာ၊ ကာ လူဂါ ပေတစ်ရာမှတာရူတီနိုစခန်း စသည်တို့သို့ ပြောင်းရွှေ့ လှုပ်ရှားသည့် ရုရှားစစ်တပ်ကြီး လှုပ်ရှားမှုသည် ၁၈၁၂ခုနှစ် စစ်ပွဲတွင် အရေးကြီးဆုံးသော အဖြစ်အပျက်ကြီး တစ်ရပ်ဖြစ်သည်ဟု ရာဇဝင်ဆရာများက ယူဆကြ၏။ ဉာဏ်ပါရမီ အဟုန်မြောက်သည့် ဤလှုပ်ရှားမှုကြီးသည် မည်သူမည်ဝါ၏ စီမံကိန်းဖြစ်သည် စသည်ဖြင့်လည်း ၎င်းတို့သည် လူပုဂ္ဂိုလ် အသီးသီးကို ချီးကျူးထောပနာပြု ကြ၏။ ဤလှုပ်ရှားမှုကြီးအတွက် မည်သူ့ကို ဂုဏ်ပြု ချီးကျူးသင့်သည်ဆိုသည့် ကိစ္စ၌လည်း ရာဇဝင်ဆရာများ သည် အချင်းချင်း ငြင်းခုံရန်ဖြစ်လျက် ရှိကြ၏။ ပြင်သစ် ရာဇဝင်ဆရာများ အပါအဝင် နိုင်ငံခြားရာဇဝင် ဆရာများ စွာကပင်လျှင် ဤတောင်ပံလှုပ်ရှားမှုအကြောင်းနှင့် ပတ်သက် လာတိုင်း ရုရှားတပ်ချုပ်၊ တပ်မှူး၊ စစ်ဦး၊ စစ်ကဲတို့ ဉာဏ် ပါရမီ ကြီးကျယ်ကြပါပေသည်ဟု အသိအမှတ်ပြုကြ၏။ သို့ရာတွင် ဤတောင်ပံ လှုပ်ရှားမှုကြီးသည် ရုရှားနိုင်ငံကို ကယ်တင်၍ နပိုလီယန်ကို ချေမှုန်းခဲ့သည်ဆိုသော လူပုဂ္ဂိုလ် တစ်စုံတစ်ယောက်၏ လေးနက်ကြီးကျယ်သော စီမံကိန်း ဖြစ်သည်ဟု စစ်သမိုင်းဆရာများနှင့် ၎င်းတို့၏ နောက်လိုက် များက အဘယ်ကြောင့် ရေးသားခြင်း ပြုနေကြပေသနည်း။ ပထမအားဖြင့် ဤအချက်ကို

ကျွန်ုပ်တို့ နားမလည်နိုင်ချေ။ ရန်သူ၏ တိုက်ခိုက်မှုကို မခံရသည့်အချိန်၌ စစ်တပ်ကြီး တစ်တပ်အဖို့ စခန်းချရန် အကောင်းဆုံးသောနေရာမှာ ရိက္ခာအပေါများဆုံး ဒေသပင်ဖြစ်သည် မဟုတ်လော။ ဤအချက် သိရန်မှာ များစွာ အပတ်တကုတ် အားထုတ် စဉ်းစားရန် မလိုချေ။ ၁၈၁၂-ခုနှစ် မော်စကိုမြို့မှ ဆုတ် ခွာလာခဲ့ပြီးသည့်နောက် ရုရှားစစ်တပ်ကြီးအဖို့ အကောင်း ဆုံးသော နေရာမှာ ကလူဂါ ပေတစ်ရာလမ်းမကြီး ဖြစ် သည်။ ဤအချက်ကို ထုံထိုင်းသော ဆယ်သုံးနှစ်သား ကလေးတစ်ယောက်ပင်လျှင် အလွယ်တကူခန့်မှန်းနိုင်ပေ သည်။ သို့ဖြစ်လျှင် တောင်ပံလှုပ်ရှားမှု စီမံကိန်းကို မွေး ထုတ်ပေးလိုက်သည့် ပါရမီဉာဏ် ကြီးကျယ်မှုဆိုသည်မှာ အဘယ်မှာနည်း။ ဤသည်ကို ကျွန်ုပ်တို့ နားမလည်နိုင်ချေ။ ရာဇဝင်ဆရာများသည် ဤတောင်ပံလှုပ်ရှားမှုကို အလွန် လေးနက်ကြီးကျယ်သော စစ်ဆင်ရေး စီမံကိန်းကြီးတစ်ရပ် - ဖြစ်သည်ဟု ဘယ်ဦးနှောက်မျိုးဖြင့် စဉ်းစားကြ၍ ကောက် ချက်ထုတ်ကြသနည်း။ ဤသည်ကိုလည်း ကျွန်ုပ်တို့ နားမလည်နိုင်ချေ။ တစ်ဖန် ဤတောင်ပံလှုပ်ရှားမှုသည် ရုရှားနိုင်ငံကို ကယ်တင်ခဲ့၍ ပြင်သစ်နိုင်ငံကို ပြိုကွဲစေသော လှုပ်ရှားမှုဖြစ်သည်ဟု ဆိုကြပြန်သောအခါ၌ကား ကျွန်ုပ်တို့အဖို့ ပို၍နားမလည်နိုင်အောင် ဖြစ်ရလေသည်။ စင်စစ်၌ ထိုတောင်ပံလှုပ်ရှားမှုသည်(အခြားသောအခြေအနေများ မရှိခဲ့ပါက၊ သို့မဟုတ် အခြားသော အခြေအနေများ ဆုံစည်းဖြစ်ပေါ်ခြင်း မရှိခဲ့ပါက၊ သို့မဟုတ် အခြားသော အခြေအနေများ နောက်ဆက်တွဲ ဖြစ်ပေါ်ခြင်း မရှိခဲ့ပါက) - ရုရှားတို့ကို ဗုန်းဗုန်းလဲပျက်စီးစေနိုင်၍ ပြင်သစ်တို့အဖို့ အကျိုးပင်ရှိနိုင်သေးသည်။ အကယ်၍ ရုရှားတို့၏ အခြေ အနေသည် ထိုတောင်ပံလှုပ်ရှားမှုတို့ကြောင့် တိုးတက် ကောင်းမွန်လာခြင်း မဟုတ်ချေ။

ထိုတောင်ပံလှုပ်ရှားမှုသည် ရုရှားစစ်တပ်ကြီးအဖို့ အကျိုးကျေးဇူး မများရုံမျှမက အခြားသော အခြေအနေများ တွင် ရုရှားတို့၏ ပျက်စီးခြင်းကိုပင် ဖြစ်စေနိုင်သေးသည်။ မော်စကိုမြို့ကြီး မီးလောင်ပျက်စီးခြင်း မရှိခဲ့လျှင်၊ နောက်က လိုက်

သော ပြင်သစ်ဗိုလ်ချုပ်မှူးရတ်က ရုရှားတပ်များကို မျက်ခြည်ပြတ်မသွားခဲ့လျှင် ဗိုလ်ချုပ်ဘင်နစ်ဆန်နှင့် ဗိုလ် ချုပ်ဘာကလေတို့ အကြံပေးခဲ့သကဲ့သို့ ရုရှားစစ်တပ်ကြီး က ပက္ကရာမြစ်ရိုးတွင် ခုခံတိုက်ခိုက်ခြင်းပြုခဲ့လျှင် မည်သို့ ရှိချိမ့်မည်နည်း။ ပက္ကရာတစ်ဖက်ကမ်းသို့ ဆုတ်ခွာလျက် ရှိသော ရုရှားတို့ကို ပြင်သစ်တို့က လိုက်လံတိုက်ခိုက်ခြင်း ပြုခဲ့လျှင် မည်သို့ရှိချိမ့်မည်နည်း။ တာရူတီနိုသို့ ရောက်ခါနီး ၌ နပိုလီယန်က စမိုးလင့်ကို ဝင်တိုက်ခဲ့စဉ်က အင်အား၏ ဆယ်ပုံတစ်ပုံမျှသော အင်အားဖြင့် ရုရှားတို့ကို တိုက်ခိုက် ခြင်းပြုခဲ့လျှင် မည်သို့ ရှိချိမ့်မည်နည်း။ ပြင်သစ်တို့က ပီတာစဘက်ရွှေမြို့တော်ကို ချီတက်တိုက်ခိုက်ခဲ့လျှင် မည် သို့ ရှိချိမ့်မည်နည်း။ အကယ်၍ ဆိုခဲ့သည့် အခြေအနေမျိုး များသာ ပေါ်ပေါက်ခဲ့ပါက ရုရှားနိုင်ငံလွတ်မြောက်ရေးကို ဖြစ်စေခဲ့သည့် ထိုတောင်ပံလှုပ်ရှားမှုသည် ရုရှားနိုင်ငံ ပျက်စီးဆုံးရှုံးခြင်းကို ဖြစ်စေနိုင်သည်သာ ဖြစ်လေသည်။

တတိယ ကျွန်ုပ်တို့ နားမလည်နိုင်ဆုံးသောအချက် တစ်ချက် ရှိသေးသည်။ ၎င်းမှာ ထိုတောင်ပံလှုပ်ရှားမှုသည် လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ ရွှေဉာဏ်တော် စူးရောက် မှုဖြင့် ပေါ်ပေါက်လာခြင်း မဟုတ်။ ထိုတောင်ပံလှုပ်ရှားမှုကို လုပ်ရကောင်းသည်ဟု မည်သူကမှလည်း ကြိုတင် သိမြင်ခဲ့ ကြခြင်းမရှိ။ ဖီလီမှ ဆုတ်ခွာခဲ့ရစဉ်ကကဲ့သို့ တောင်ပံလှုပ် ရှားမှုကို ပြုလုပ်သင့်သည်ဟု မည်သူ၏ဦးနှောက်ထဲတွင် မှ ပြက်ပြက်ထင်ထင် သိလာသည်မဟုတ်။ ထိုတောင်ပံလှုပ်ရှားမှုသည် ရေတွက်ခြင်းငှာ မစွမ်းနိုင်သော အထူးထူး သော အခြေအနေများကြောင့် တရွေ့ရွေ့ တဖြည်းဖြည်း မသိမသာ ပေါ်ပေါက်လာခြင်းဖြစ်ပြီး ပြီးဆုံးလွန်မြောက် သွားသည့်အခါကျမှ၊ အတိတ်၏ပစ္စည်းတစ်ခု ဖြစ်သွားခါ မှ ဤကား တောင်ပံလှုပ်ရှားမှုဟု ဖြစ်လာရခြင်း ဖြစ်သည် ဆိုသည့်အချက်ကို ရာဇဝင်လေ့လာသူ သုတေသီပုဂ္ဂိုလ်တို့ တမင်မျက်ကွက်ပြုကာ မမြင်ယောင်ဆောင်နေခြင်းပင် ဖြစ်ပေသည်၊ ဤအချက်ကိုမူ ကျွန်ုပ်တို့ နားမလည်နိုင်ဆုံး ဖြစ်ပေသည်။

ဖီလီဦးစီးဌာနချုပ် အရေးပေါ် အစည်းအဝေးတုန်း က ရုရှားတပ်မှူးများ၏ ခေါင်းထဲတွင်ရှိသည့် တစ်ခုတည်း သောအတွေးမှာ နှစ်ဇနီပေတစ်ရာလမ်းမကြီး အတိုင်း ဆုတ် ခွာသင့်သည်။ ထိုလမ်းမှလွဲ၍ အခြားလမ်း မရှိဟူသော သဘာဝကျ သည့်အတွေးဖြစ်၏။အစည်းအဝေးတွင် ဗိုလ်ချုပ် အများစုက ထိုသို့ဆုတ်ခွာရန် မဲ ပေးခဲ့ကြခြင်းကို ထောက် လျှင် ဤအချက်ကို သိနိုင်သည်။ ထို့မှုမက စစ်သေနာပတိ ချုပ်နှင့် ထောက်ပံ့ရေးဌာနကို တာဝန်ယူရသာ ဗိုလ်ချုပ်လန် စကာ ကိုင်းတို့ အစည်းအဝေးတွင် ပြောဆိုကြသော လူသိရှင် ကြား စကားများကို ထောက်လျှင် ဤအချက်ကို သိနိုင် သည်။ တပ်မတော်အတွက် ရိက္ခာများကို ကျူ လာနှင့် ရာဇန် နယ်များရှိ ဥက္ကာမြစ်ရိုးတစ်လျှောက်တွင် အများအပြား ( သိုလှောင် ထားပြီး ဖြစ်ကြောင်း၊ နှစ်ဇနီ ပေတစ်ရာလမ်းမ ကြီးအတိုင်း ဆုတ်ခွာလျှင် တပ်မတော်စစ်ကြောင်းနှင့် ရိက္ခာ ထောက်ပံ့ရေးဌာနအကြားတွင် ဥက္ကာမြစ်ကြီး ခြားလျက် ရှိမည်ဖြစ်ကြောင်း၊ ဆောင်းဦးပေါက် ရေခဲချိန်တွင် ဥက္ကာ မြစ်ကြီးကို ဖြစ်ကူးခြင်းပြု၍ ရမည် မဟုတ်တော့ကြောင်း ဖြင့် ဗိုလ်ချုပ်လန်စတွိုင်းက စစ်သေနာပတိချုပ်ထံ ထိုစဉ်က အစီရင်ခံခဲ့သည်။ ဤသည်မှာ နှစ်ဇနီ ပေတစ်ရာလမ်းမကြီး အတိုင်း ဆုတ်ခွာရေးဟူသော သဘာဝအကျဆုံးနည်းလမ်း ဟု တစ်ခါက ယူဆခဲ့သည့် အယူအဆကို မလွှဲမရှောင် စွန့်လွှတ်ရန် ပထမဆုံး ပေါ်ပေါက်လာသည့် အကြောင်း ရင်းဖြစ်၏။ ထို့ကြောင့် ရုရှားစစ်တပ်ကြီးသည် ရာ ဇန်ပေ တစ်ရာလမ်းမကြီးတစ်လျှောက် ရိက္ခာထောက်ပံရေး ဒေသ များနှင့်နီးရာ တောင်ဘက်သို့ ဆုတ်ခွာလာခဲ့ရသည်။ တစ်ဖန် (ရုရှားစစ်တပ်ကြီးကို မျက်ခြည်ပြတ်သွားခဲ့သော) ပြင်သစ် စစ်တပ်၏ မလှုပ်မရှား ငြိမ်သက်လျက်ရှိခြင်း၊ ကျူလာရှိ လက်နက်ရုံများ၏ လုံခြုံရေးအတွက် စိုးရိမ်ရခြင်း၊ အထူး သဖြင့် ရိက္ခာ ထောက်ပံ့ရေးဒေသများနှင့် နီးကပ်စွာ နေရ သည်နှင့်အမျှ ကိုယ်က အသာစီးရ လျက်ရှိခြင်း စသည့် အကြောင်းများကြောင့် ရုရှားစစ်တပ်ကြီးသည် ထို့ထက်

တောင်ဘက်ကျသော ကျူလာပေတစ်ရာ လမ်းမကြီးဘက် သို့ ဆုတ်ခွာလာခဲ့ရ ပြန်သည်။ ရုရှားတပ်မှူးများသည် ၎င်းတို့၏စစ်လမ်းမကြီးအား ပက္ကရာမြစ်ကို ဖြတ်၍ ကျူ လာပေတစ်ရာမကြီးဘက်သို့ အပြင်းချီစေပြီးနောက် ပိုဒေါဒေသတွင် စခန်းချတပ်စွဲရန် ကြံရွယ်ခဲ့ကြသည်။

တာရူတီနိုတွင် တပ်စွဲရန် ထိုအချိန်အထိ စိတ်ကူးမထည့် ခဲ့ကြသေးချေ။

သို့ရာတွင် ကာလအတန်ကြာ ရုရှားတပ်များကို မျက်ခြည်ပြတ်၍ သွားခဲ့ သော ပြင်သစ်စစ်တပ်ကြီး ဘွားခနဲ ပေါ်လာခြင်း၊ ရင်ဆိုင်တိုက်ပွဲအတွက် ပြင်ဆင် မှုများ၊ ပြု လုပ်ရန် လိုအပ်ခြင်း အထူးသဖြင့် ကာလူဂါနယ်တွင် ရိက္ခာ များ ပေါများ ခြင်း စသော ရေထွက်ခြင်း မစွမ်းနိုင်သည့် အခြေအနေအရပ်ရပ်တို့ကြောင့် ရုရှား စစ်တပ်ကြီးသည် တောင်ဘက်သို့ ထပ်မံဆုတ်ခွာခဲ့ရပြန်ကာ ကျူလာကို ဖြတ် ၍ ကာလူဂါ ပေတစ်ရာလမ်းမကြီးသို့ လည်းကောင်း ထိုမှ တစ်ဖန် ရိက္ခာသိုလှောင် ရေးဌာနများရှိရာ ထိုလမ်းမကြီး နှစ်ခုအကြားရှိ တာရူတီနိုသို့လည်းကောင်း ပြောင်းရွှေ့ခဲ့ရ ပြန်သည်။ မော်စကိုမြို့ကို စွန့်ခွာရန် မည်သည့်အချိန်က ဆုံးဖြတ်ခဲ့ သည်ဟု တိကျသေချာစွာ ပြောဆိုခြင်း မပြု နိုင်သကဲ့သို့ တာရူတီနိုသို့ ပြောင်းရွှေ့ ရန် မည်သည့် အချိန် ကာလတွင် မည်သူက ဆုံးဖြတ်ခဲ့သည်။ ဆိုခြင်းကိုလည်း တိကျစွာ ပြော၍မဖြစ်နိုင်ချေ။ ရေတွက်ခြင်းငှာ မစွမ်းနိုင် သော အခြေအနေ အရပ် ရပ်တို့ကြောင့် ရုရှားစစ်တပ်ကြီး ထိုနေရာသို့ ရောက်ရှိသွားပြီးသည့်အခါကျမှ သာလျှင် မိမိ တို့သည် မူလကတည်းက ဤသို့လှုပ်ရှားရန် ကြံရွယ် ခဲ့ခြင်း ဖြစ်ကြောင်း၊ ကာလကြာမြင့်စွာကတည်းက ထို လှုပ်ရှားမှုကြီး၏ အကျိုးတရား များကို ကြိုတင်သိမြင်ခဲ့ပြီး ဖြစ်ကြောင်းဖြင့် “အစက ငါ မပြောလား” ဟူသော မျက်နှာပေးမျိုးဖြင့် ဟန်ဓာတ်ခုတ်နေကြခြင်းသာ ဖြစ်လေ သည်။

# အခန်း ၂

ရာဇဝင်ဆရာတို့ တခမ်းတနား ရေးသားကြသော တောင်ပံ လှုပ်ရှားမှု ဆိုသည်မှာ စင်စစ်၌ ဘာမျှ အဆန်းမဟုတ်ချေ။ ထိုလှုပ်ရှားမှုဖြစ်ပေါ်လာပုံမှာ ဤသို့ဖြစ်၏။ ကျူးကျော်သူ များရန်ကြောင့် တရကြမ်း ဆုတ်ခွာခဲ့ရသည့် ရုရှား စစ်တပ် ကြီးသည် သွားရိုးသွားစဉ် ပေတစ်ရာလမ်းကြောင်းပေါ်မှ ခွဲထွက်လာကာ မိမိနောက်တွင် ရန်သူတို့ ထက်ကြပ်လိုက် လာခြင်းမရှိဟု သိရသောအခါ၌ ရိက္ခာ ပစ္စည်း ပေါများရာ ဒေသသို့ အလိုအလျောက်ရောက်ရှိလာခဲ့ခြင်းသာ ဖြစ်လေ သည်။

ရုရှားစစ်တပ်ကြီး၌ စစ်ဆင်စစ်တက်အရာတွင် ပါရမီ ထူးချွန်သူတပ်မှူးချုပ် တို့ မရှိစေကာမူ ခေါင်းဆောင် ဟူ၍ မရှိစေကာမူ ထိုစစ်တပ်ကြီးသည် ရိက္ခာ ပေါများရာ ဒေသ၊ အစာရေစာပေါများရာ သေသသို့ တုံ့ပြန်လှုပ်ရှား ရမည်သာ ဖြစ် လေသည်။ ထိုနည်းမှလွဲ၍ အခြားနည်းမရှိ ချေ။

နစ်ဇနီ ပေတစ်ရာလမ်းမကြီးမှ ရာဇန်၊ ကျူလာနှင့် ကာလူဂါပေတစ်ရာ လမ်းမကြီးဘက်သို့ ဦးတည်လှုပ်ရှား ရမည်ဆိုသည့်အချက်သည် အလွန် သဘာဝကျ၍ ရှင်းရှင်း ကြီး သိနိုင်သောကိစ္စ ဖြစ်သည်။ စစ်ဆင်စစ်တက်ရာတွင် ၊ ဉာဏ်ကြီးကျယ်သူတို့ကို မဆိုထားဘိ၊ ရုရှားတပ်ပြေးများ ပင်လျှင် ဤသဘောမျှ လောက်ကို ကောင်းကောင်းကြီး သိကြသည်။ ထို့ကြောင့်သာ ရုရှားတပ်ပြေး များသည် ထို ဒေသများဆီသို့ တသောသော ထွက်ပြေးကာ အရပ်သူ အရပ်သား၏ ပစ္စည်းများကို လုယက်ခဲ့ကြသည် မဟုတ် လော။ ထို့ကြောင့်ပင်လျှင် ရုရှားစစ်တပ် ကြီးကိုလည်း တပ် ပြေးများ ဆုတ်ခွာရာ ထိုလမ်းအတိုင်း ဆုတ်ခွာရမည်ဟု ပီတာ စဘတ် ရွှေနန်းတော်ကြီးက စစ်သေနာပတိချုပ် ကူတူဇော့ဗ်ထံတောင်းဆိုခဲ့သည်

မဟုတ်လော။ တာရူတီ နိုသို့ ရောက်သောအခါ၌ ရုရှားစစ်တပ်ကြီးအား ရာဇနီပေ တစ်ရာလမ်းမကြီးအတိုင်း ဆုတ်ခွာခဲ့သည့်အတွက် ဘုရင် ကေရာဇ်က စစ်သေနာပတိချုပ် ကူတူဇော့ဖ်ထံသို့ ဆူပူ ကြိမ်းမောင်းသော စာချွန်တစ်စောင်ကို ပေးပို့ခဲ့သည် မဟုတ် လော။ ထိုစာချွန်၌ ဘုရင်ကေရာဇ်က ကူတူဇော့ဖ် ထို အချိန်က ရောက်ရှိတပ်စွဲနေသည့် ကာလူဂါပေတစ်ရာ လမ်းမကြီးဘက်သို့ ဆုတ်ခွာရမည်ဟု ကြိုတင်ထောက်ပြခဲ့ သည် မဟုတ်လော။

ဤသို့ဖြင့် တိုက်ပွဲစဉ်တစ်ခုလုံးနှင့် ဘိုရိုဒီနို တိုက် ပွဲက တွန်းပို့လိုက်သည့် အရှိန်ဖြင့် ဘောလုံးကြီးတစ်လုံးကို သို့ လိမ့်လာခဲ့သော ရုရှားစစ်တပ်ကြီးသည် ထို အချိန်ကုန် သွား၍ နောက်ကထပ်တွန်းအား တစ်စုံတစ်ရာ မရရှိတော့ သည့်အခါ၌ ၎င်းရပ်တန့်မည့်နေရာ၌ အရှိန်ကုန်ကာ ရပ် တန့်သွားခဲ့ရလေသည်။

သို့ဖြစ်လျှင် စစ်သေနာပတိချုပ် ကူတူဇော့ဖ်၏ အရည်အချင်းသည် အ ဘယ်၌ တည်သနည်းမသေနင်ဗျူ ဟာမြောက် စစ်ကစားမှုတွင် ပါရမီဉာဏ် ထူးချွန်ထက် မြက်ခြင်းသည် ၎င်း၏အရည်အချင်းလော။ မဟုတ်ချေ။ ၎င်း၏ အရည်အချင်းမှာ အခြားမဟုတ်။ ထိုစဉ်က ဖြစ် ပျက်လျက်ရှိသော အခြေအနေ၏ဝိသေသထူးပုံကို ကောင်း စွာ နားလည်ခြင်း၊ ပြင်သစ်စစ်တပ်ကြီး မ လှုပ်မရှား ငြိမ် သက်လျက်ရှိသည့် အဓိပ္ပာယ်ကို ကောင်းစွာနားလည်ခြင်း၊ ဘိုရိုဒီနို တိုက်ပွဲသည် မိမိတို့အောင်ပွဲဖြစ်သည်ဟု ယခု ထက်တိုင် အခိုင်အမာပြောဆိုလျက် ရှိခြင်း၊ စစ်သေနာပတိ ချုပ်တစ်ဦး ဖြစ်သည့်အလျောက် ထိုးစစ်တိုက်စစ်ပြုရန် စိတ်အားထက်သန်ခြင်း ဖြစ်ရမည့်အစား အကျိုးမဲ့ အချည်း နှီးသော ရင်ဆိုင် တိုက်ပွဲကို ရှောင်ကွင်းရန် ရုရှားစစ်တပ် ကြီးအား ရှိသမျှသော ဉာဏ်အားဖြင့် ထိန်းချုပ်လျက် ရှိခြင်း စသည်တို့ပင် ဖြစ်လေသည်။ ဤအချက်များကို နားလည် လုပ်ဆောင်ခဲ့သူမှာ ကူတူဇော့ဖ်တစ်ဦးတည်းသာ ရှိလေ သည်။ ဤသည်ပင်လျှင် ၎င်း၏ အရည်အချင်း ဖြစ်ပေ သည်။

ဘိုရိဒီနိုတိုက်ပွဲတွင် ဒဏ်ရာရရှိခဲ့သော တောကောင် ကြီးသည် ထွက်ပြေး သွားသော တောလိုက်မုဆိုးထားပစ်ခဲ့ သည့်နေရာ၌ပင် လဲလျက်ရှိလေပြီး၊ သို့ရာတွင် တိုတော ကောင်ကြီးသည် အသက်ရှင်လျက် ရှိသေးသလော၊ အား ရှိ သေးသလော၊ သို့တည်းမဟုတ် ဝပ်လျက်ချောင်းနေခြင်း လော၊ ဤသည်ကိုမူ တောလိုက်မုဆိုးမသိချေ။ ထိုအခိုက် ၌ ထိုတောကောင်ကြီး၏ ညည်းညူးသံကြီးကို ကြားလိုက် ရသည်။

. မိမိ၏ ဆိုးရွားလှသော အခြေအနေကို ဖော်ပြလျက် ရှိသည့် ဒဏ်ရာရ လျက်ရှိသော ထိုတောကောင်ကြီး (ပြင် သစ်စစ်တပ်ကြီး)၏ ညည်းညူးသံကာ အခြားမဟုတ်။ ဧကရာဇ်ဘုရင် နပိုလီယန်က ၎င်း၏ ကိုယ်စားလှယ် နယ် စားကြီး လောရစ္စတန်အား ငြိမ်းချမ်းရေး ဆွေးနွေးရန် ပဏ္ဏာမကမ်းလှမ်းချက်နှင့်အတူ ကူ တူဇော့ဗ်စခန်းသို့ စေ လွှတ်လိုက်ခြင်းပင် ဖြစ်သတည်း။

မိမိ၏ခေါင်းထဲသို့ ဝင်ရောက်လာသော အရာဟူ သမျှသည် မှန်သည် ဟူသော ရှိမြဲယုံကြည် စိတ်ချခြင်းမျိုးဖြင့် ဧကရာဇ် ဘုရင်နပိုလီယန်သည် ၎င်း၏စိတ်ထဲတွင် ပထမ ဆုံးပေါ်လာသော စကားလုံးများကို ကူတူဇော့ဗ်ထံ ရေးသား ပေးပို့လိုက်လေသည်။ သို့ရာတွင် ထိုစကားလုံးများမှာ ဘာအဓိပ္ပာယ်မျှ မ ရှိချေ။

"မင်းသားကြီးကူတူဇောင်"ဟု အစချီသော နပိုလီ ယန်၏ စာချွန်မှာ အောက် ပါအတိုင်း ဖြစ်၏။

စိတ်ဝင်စားဖွယ်ကောင်းသော ပြဿနာများကို သင် နှင့် ဆွေးနွေးရန် အတွက် ကျွန်ုပ်၏ တပ်ရေးဗိုလ်ချုပ် တစ်ယောက်ကို စေလွှတ်လိုက်သည်။ ၎င်း ပြောဆို သမျှကို စိတ်ချယုံကြည်ရန် မင်းသားကြီးအား ကျွန်ုပ် မေတ္တာရပ်လိုသည်။ အထူးသဖြင့် သင့်အပေါ်တွင် ထားရှိသော ကျွန်ုပ်၏ လေးစားချစ်ကြည်မှုကို

ထုတ်ဖော်ပြောဆိုခြင်းပြုသည့်အခါတွင် ယုံကြည် စိတ်ချစေလိုသည်။ ဘုရားသခင်သည် ၎င်း၏ ကြီး မြတ်တော်မူသော ကရုဏာ၌ သင့်အား ထိန်းသိမ်းစေ သတည်းဟု ကျွန်ုပ်ဆုတောင်းလိုက်သည်။ ဤစာ - ချွန်၌ ကျွန်ုပ်၏ ချစ်ကြည်လေးမြတ်မှုကို ဖော်ပြရန် ရည်ရွယ်ချက်မှတစ်ပါး အခြားမည်သည့် ရည်ရွယ် ချက်မျှ မရှိကြောင်းကို သိစေအပ်သည်။ မင်းသားကြီး ကူတူဇော့ဗ်။

နပိုလီယန် မော်စကို ၁၈၁၂-ခု၊ အောက်တိုဘာ ၃၀ ရက်။

နပိုလီယန်၏ အထက်ပါစာချွန်နှင့် စပ်လျဉ်း၍ စစ်သေနာပတိချုပ် ကူတူဇော့ဗ်က "တစ်စုံတစ်ခုသော ငြိမ်းချမ်းရေးစာချုပ်ကို ချုပ်ဆိုခြင်းပြုရန် ဆော်သြသူဟု အထင်ခံရလျှင် ကျွန်တော့်ကို နောင်လာနောင်သားတို့ ကျိန်ဆဲကြတော့မည်။ ဤသည်မှာ ကျွန်တော့်လူမျိုး၏ လက်ရှိ စိတ်သဘောထားဖြစ်သည်" ဟု ပြန်ကြားလိုက် သည်။ သို့သော်လည်း စစ်သေနာပတိ ကူတူဇော့ဗ်သည် ထိုးစစ်တိုက်စစ်ဆင်နွှဲခြင်းမပြုရန် ၎င်း၏တပ်များကို ဆက်လက်ထိန်းသိမ်းလျက် ရှိလေသည်။ "

ပြင်သစ်တပ်များ မော်စကိုမြို့ကြီးကို လုယက် ဖောက်ထွင်းလျက်ရှိချိန်နှင့် ရုရှားတပ်များ တာရူတီနိုတွင် ငြိမ်သက်စွာ စခန်းချလျက်ရှိချိန် အတောအတွင်း၌ကား စစ်တပ်ကြီးနှစ်တပ်အကြားရှိ နှိုင်းယှဉ်အင်အား၊ အချိုးအစားသည် (စိတ်ဓာတ်အရလည်းကောင်း၊ လူအင်အား အရေအတွက်အရလည်းကောင်း) ပြောင်းသွားခဲ့လေပြီ။ ဤပြောင်းလဲမှုကြောင့် အင်အားသာလွန်မှုသည် ရုရှားတို့ ဘက်သို့ ရောက်လာခဲ့လေပြီ။ ပြင်သစ်စစ်တပ်၏ အင်အား နှင့် အခြေအနေကို ရုရှားတို့ မသိရသေးသော်လည်း ထို အင်အား အချိုးအစား ပြောင်းလဲမှု ဖြစ်ပေါ်လာသည်နှင့် တစ်ပြိုင်နက် ရန်သူကို ချက်ချင်း ထိုးစစ်ဆင်ရန်လိုအပ် လာပြီဖြစ်ကြောင်းကို ရေတွက်ခြင်းငှာ မစွမ်းသော နိမိတ်" လက္ခဏာများက ပြသလျက် ရှိလေပြီ။ ကေရာဇ်ဘုရင် နပိုလီယန်ထံမှ သံတမန် လောရစ္စတန်

ရောက်ရှိလာခြင်း၊ တာရှုတီနိုတွင် စားရေရိက္ခာများ ပေါများလျက်ရှိခြင်း၊ ပြင်သစ် တို့ မလှုပ်ရှားနိုင်ဖြစ်ကာ အအုပ်အစည်း ပျက်နေ ပြီဆိုသည့် သတင်းများ အရပ်ရပ် မှ ရောက်ရှိလာခြင်း၊ ရုရှားတပ်ရင်းများသို့ စစ်သားသစ်များ ဝင်ရောက်လာခြင်း၊ ရာသီဥတု ကောင်းမွန်ခြင်း၊ ရုရှားတပ်များအဖို့ ကြာရှည် လေးမြင့်စွာ အနားရခဲ့ ခြင်း၊ တပ်နားလျက်ရှိသော စစ်တပ် တစ်တပ်တွင် ဖြစ်မြဲထုံးစံအတိုင်း တပ်သား များမှာ စစ်စိတ် စစ်သွေးများ ဆူဝေလျက်ရှိခြင်း၊ ကာလကြာမြင့်စွာ ပျောက် ကွယ် လျက် ရှိသော ပြင်သစ်စစ်တပ်ကြီး၏ အခြေအနေကို သိလိုစိတ် ပြင်းထန်လျက်ရှိ ခြင်း၊ တာရှုတီနိုတွင် စခန်းချ လျက်ရှိသော ပြင်သစ်စစ်တပ်ကြီးအနီးသို့ ရုရှားကင်း ထောက်များ ရဲဝံ့စွာ ကင်းထိုးရှိခြင်း၊ လယ်သမားနှင့် ပြောက် ကျားများက ပြင်သစ် တို့ကို အလွယ်တကူ အောင်မြင် လျက်ရှိပြီ ဆိုသည့် သတင်းနှင့် ထိုသတင်းများကို ကြား၍ သူ့ထက်ငါ တိုက်ခိုက်လိုစိတ်များ ပေါ်ပေါက်လျက်ရှိခြင်း၊ ပြင်သစ်တို့ မော် စကိုမြို့ကြီးကို သိမ်းပိုက်ထားသမျှ ကာလ ပတ်လုံး ရုရှားတို့၏ ရင်ထဲတွင် လက်စားချေလိုစိတ်များ တဖွားဖွား ပေါ်ပေါက်လျက်ရှိခြင်းနှင့် (ထိုအရာများ အားလုံး အပြင်) စစ်တပ်နှစ်တပ်၏ အင်အားအချိုးအစားသည် ပြောင်းသွားကာ မိမိတို့က သာလွန်မှုရလျက်ရှိပြီဟု ရုရှား တပ်သားတို့ စိတ်၌ ဝိုးတဝါး သိမြင်စပြု လာခြင်း စသည် တို့ကား ထိုးစစ်ကြီးတစ်ရပ်ကို ဆင်နွှဲရန် လိုအပ်လာပြီ ဆိုသော အချက်ကို ပြလျက်ရှိသည့် နိမိတ်လက္ခဏာရေး ဖြစ်လေသည်။ စစ်တပ်နှစ်တပ်၏ နှိုင်းယှဉ်အင်အား အချိုး အစား၌ အရေးကြီးသော ပြောင်းလဲချက်ကြီးတစ်ရပ် ပေါ် ပေါက်လာခဲ့ကာ ထိုးစစ်တစ်ရပ် ဆင်နွှဲရေးကိစ္စသည်လည်း လွှဲရှောင်မရတော့ချေ။ ထိုသည်နှင့် တစ်ပြိုင်နက် မိနစ် လက်တံတစ်ပတ်စေ့သောအခါတွင် နာရီတစ်ခု သည် တဒင် ဒင်မြည်လာသကဲ့သို့ ဤသို့အင်အား အချိုးအစား ပြောင်း လဲလာ သည်၌ အမြဲတစေ အလုပ်များခြင်း၊ တိုင်ပင်ဆွေး နွေးခြင်း၊ ငြင်းခုံခြင်းစသည် တို့သည်လည်း အတက်တန်း စစ်အာဏာပိုင်များကြားတွင် ဖြစ်ပေါ်လာခဲ့လေ သတည်း။

# အခန်း ၃

ရုရှားစစ်တပ်ကြီးကို ကူတူဇော့ဗ်နှင့် ၎င်း၏ စစ်ဦးစီးဌာန ချုပ်တို့အပြင် ပီတာစဘတ် ရွှေမြို့တော်ကြီးမှ ဘုရင် ဧကရာဇ်တို့ကလည်း ကွပ်ကဲခြင်း ပြုလေသည်။ မော်စကို မြို့ကြီး ကျဆုံးပြီဆိုသည့်သတင်း ပီတာစဘက်ရွှေမြို့တော် သို့ ရောက်မလာသေးမီ၌ တိုက်ပွဲစဉ်တစ်ခုလုံးအတွက် ( အသေးစိတ် စီမံကိန်းတစ်ရပ်ကို ရေးဆွဲကာ အညွှန်းအဖြစ် အသုံးပြုရန် ကူတူဇော့ဗ်ထံသို့ ပေးပို့ခဲ့ပြီး ဖြစ်လေသည်။

မော်စကိုမြို့ ကျွန်ုပ်တို့လက်ထဲတွင် ရှိသေးသည်ဟူသော ယူဆချက်ဖြင့် ထိုစီမံကိန်းကို ရေးဆွဲခဲ့ခြင်း ဖြစ်သည့်တိုင် စစ်ဦးစီးဌာနချုပ်သည် ၎င်းကိုရှေ့လုပ်ငန်းစဉ်များအတွက် အခြေခံအဖြစ် လက်ခံအတည်ပြုခဲ့လေသည်။ အဝေးမှ စီစဉ်ချမှတ်ပေးသော လှုပ်ရှားမှုတို့သည် လက်တွေ့ဆောင် ရွက်ရန် ခက်ခဲသည်ဟုသာ စစ်သေနာပတိချုပ်ကူတူဇော် က အကြောင်းပြန်ခဲ့သည်။ ထို့ကြောင့် တွေ့ကြုံဖွယ်ရှိသော အခက်အခဲများကို ဖြေရှင်းရန် ရွှေနန်းတော်ကြီးက ညွှန် ကြားချက်သစ်များ ထပ်မံပေးပို့ခြင်း ပြုခဲ့လေသည်။ ထို့ပြင် . ကူတူဇော့ဗ်၏ လုပ်ရပ်များကို စောင့်ကြည့်၍ အစီရင်ခံရန် အတွက်လည်း လူသစ်များကို ထပ်မံစေလွှတ်လိုက်သည်။

ထိုမျှမကသေး။ ရုရှားစစ်တပ်ကြီး၏ စစ်ဦးစီးဌာန တစ်ခုလုံးကိုလည်း ပြင်ဆင်ဖွဲ့စည်းလိုက်လေသည်။ ကျဆုံး သွားသော ဗိုလ်ချုပ်ကြီး ဘာဂရေးရှင်းနှင့် အကျဉ်းကျခံ နေရသော ဗိုလ်ချုပ်ဘာဂလေတို့နေရာတွင်လည်း လူစား ထိုးရတော့မည် ဖြစ်၏။ ဗိုလ်ချုပ်(က)ကို ဗိုလ်ချုပ် (ခ) ၏ နေရာတွင် အစားထိုးရမည်လော၊ ဗိုလ်ချုပ် (ခ) ၏ နေရာတွင် ဗိုလ်ချုပ်(ဃ)ကို အစားထိုးမည်လော၊ သို့တည်း မဟုတ် ဗိုက်ချုပ် (ဃ) ကို ဗိုလ်ချုပ် (က)၏ နေရာတွင် အစားထိုးမည်လောဟူ

သည့် ပြဿနာမျိုးကိုလည်း အလေး အနက်စဉ်းစားခြင်း ပြုကြလေသည်။ (ထိုသို့ အပြောင်း အရွှေ့ လုပ်ခြင်းကြောင့် ဗိုလ်ချုပ်(က) သို့မဟုတ် ဗိုလ်ချုပ် (ခ) စသည့် သက်ဆိုင်ရာပုဂ္ဂိုလ်တို့ ကျေနပ်မှုရကောင်း ရကြမည်ဖြစ်သော်လည်း ထိုထက် ဘာ မျှအကျိုးကျေးဇူး မများကြောင်းကိုကား စဉ်းစားမိကြဟန် မတူပါ။) စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်နှင့် ၎င်း၏ ဦးစီး ချုပ် ဘင်နစ်ဆန်တို့ မသင့်မတင့်ဖြစ်လျက်ရှိခြင်း တပ် မတော်တွင်းသို့ ဘုရင်ကေရာဇ်၏ လူယုံတော်များ ရောက်ရှိ လာခြင်း၊ တပ်ထဲ တွင် ရာထူးအပြောင်းအရွှေ့ကိစ္စများ ပေါ်ပေါက်လာခြင်း စသည်တို့ကြောင့် တပ်မတော် စစ်ဦးစီး ဌာနချုပ်တွင် ခါတိုင်းထက် ရှုပ်ထွေးသော အုပ်စုတိုက်ပွဲ များ ဖြစ်ပေါ်လာခဲ့လေသည်။ ဗိုလ်ချုပ်(က)က ဗိုလ်ချုပ် (ခ)ကို နှိမ်ခြင်း၊ ဗိုလ်ချုပ်(ဃ)က ဗိုလ်ချုပ်(ဂ)ကို ချောက်  တွန်းခြင်း စသည်ဖြင့် စိပ်ဖြာ၍ ရနိုင် သလောက် အပြန်ပြန် အလှန်လှန် အချင်းချင်းတိုက်ခိုက်လျက် ရှိကြ၏။ ဤသို့ ပြဿနာအရပ်ရပ်တွင် တစ်ယောက်တစ်မျိုးစီ အယူအဆ ကွဲကာ ခြေရှုပ်လျက် ရှိ ကြရာ ၎င်းတိုခြေအရှုပ်ဆုံး၊ စက် ပုန်းအခုတ်ကြဆုံးပြဿနာမှာ စစ်ပွဲဆင်နွှဲရေး ပြဿနာ ဖြစ်လေသည်။ ဤ၌လည်း ၎င်းတို့အားလုံးကပင် ဤ စစ်ပွဲကြီးကို မိမိ ဦးစီး ညွှန်ကြားနေသည်ဟု အထင်ရောက် နေကြသူများချည်း ဖြစ်နေသည်။ သို့ရာတွင် စစ်ပွဲကြီး ဆင်နွှဲရေး ပြဿနာအား ၎င်း၏ထုံးစံအတိုင်း ၎င်းတို့နှင့် သီးခြားကင်းလွတ်စွာ ဖြစ်ပေါ်လျက် ရှိလေသည်။ ထိုပုဂ္ဂိုလ် များက စီမံသည့် အတိုင်း ဖြစ်မလာဘဲ ပြည်သူလူထုများ ၏ အခြေခံကျသော သဘောထားနှင့်အညီ ဖြစ်ပေါ်လျက် ရှိလေသည်။ အမြင့်ဆုံးသော စစ်အာဏာပိုင်များ၏ အဝန်း အဝိုင်း အတွင်း၌သာလျှင် ဤသို့သော စီမံကိန်းများ၊ တန်ပြ စီမံကိန်းများ၊ တစ်ခုနှင့်တစ်ခု ပဋိပက္ခဖြစ်မှုများသည် လာလတ္တံ့သော အဖြစ်အပျက်ကြီးကို မှန်ကန်စွာ ထင်ဟပ် ဖော်ပြလျက် ရှိသည်ဟု ထင်နေကြခြင်းဖြစ်လေသည်။

တာရူတီနိုတိုက်ပွဲပြီးသည့်နောက် အောက်တိုဘာ လ ၂ရက်နေ့စွဲဖြင့် ဘုရင်ကေရာဇ်ထံမှ ကူတူဇော့ဗ်ထံသို့ ရောက်လာသော စာချွန်တစ်စောင်၌ အောက်ပါအတိုင်း ပါရှိ၏။

ကြားရောက်လိုက်သည် မင်းသားကြီးကူတူဇော့ဗ်။ စတင်ဘာလမှစ၍ မော်စကိုမြို့ကြီးသည် ရန်သူ့ လက်တွင်းသို့ ကျရောက်ခဲ့ပြီး သင်၏ နောက်ဆုံးအစီရင်ခံစာချွန်ကို စက်တင်ဘာ ၂၀ ရက်နေ့တွင် ရေးခဲ့ခြင်း ဖြစ်သည်။ ဤအတောအတွင်း၌ ရန်သူကို တုံ့ပြန်တိုက်ခိုက်ခြင်းလည်း မရှိ၊ ငါ၏ ရှေးဟောင်းမြို့တော်ကြီးကို ကယ်တင်ရန် ကြိုးပမ်းခြင်းလည်း မရှိရုံမျှမက သင်၏ အစီရင်ခံစာများ အရဆိုလျှင် ထပ်မံဆုတ်ခွာလျက်ရှိသည်ဟုပင် သိရသည်။ ယခု အချိန်၌ ဆာပူကော့မြို့သည် ရန်သူလက်တွင်းသို့ ကျရောက်လျက်ရှိ၍ တပ်မတော်ကြီးအတွက်မရှိ မဖြစ်သော လက်နက်ရုံများရှိရာ ကျူလာမြို့သည် လည်း အန္တ ရာယ်ဝိုင်းလျက်ရှိပြီ။ ဗိုလ်ချုပ်ဝင်ဇင်ရို ဒီထံမှအစီရင်ခံချက်များအရဆိုလျှင် တပ်သား တစ်သောင်း အင်အားရှိသော ရန်သူတပ်ဖွဲ့များသည်  ပီတာစဘက်ရွှေမြို့တော်သို့ ချီတက်လျက် ရှိပြီဟု ငါကြားရသည်။ ထောင်ပေါင်းများစွာသော အခြား ရန်သူတပ်ဖွဲ့များသည်လည်း၊ ဒမီထရော့သို့ ချီ တက်လျက်ရှိ၍ တတိယတပ်ဖွဲ့ တစ်ဖွဲ့မှာ ဗလာ ဒီမာ ပေတစ်ရာလမ်းမကြီးအတိုင်း ချီတက်လျက် ရှိသည်။ အင်အားအတော်အသင့်ရှိသော ရန်သူတပ်ဖွဲ့ တစ်ဖွဲ့သည် ရုဇာနှင့် မိုဇပြော်ကြားတွင် တပ်စွဲလျက် ရှိသည်။ နပိုလီယန်မှာ စက်တင်ဘာလ ၂၅-ရက် နေ့အထိ မော်စကိုတွင် ရှိနေသေးသည်။ ဤသတင်း များကို ထောက်သော် နပိုလီယန်နှင့် ၎င်း၏ကိုယ် ရံတော်တပ်များက မော်စကိုတွင်ရှိ၍ ကျန်တပ်များမှာ နေရာအနှံ့အပြားတွင်ဖြန့်ကျင်းထားကြောင်းမှာ ထင် ရှားသည်။ ဤအချိန်တွင် မိမိဘက်မှ ထိုးစစ်မပြုနိုင် လောက်အောင် ကြီးမားသည့် ရန်သူ့အင်အားကို သင် ရင်ဆိုင်နေရသည်ဆိုလျှင် ဖြစ်နိုင်သလော။ သို့ ရာတွင် ဤသို့မဟုတ်နိုင်ပြီ။ ယခုအချိန်၌ သင့်အား

လိုက်လံလျက်ရှိသည့် တပ်မတော်ထက် အင်အား နည်းလျက်ရှိချိမ့်မည်။ ဤ အခြေအနေများကို အခွင့် ကောင်းယူကာ မိမိထက် အားအင်သေးငယ်သော ရန်သူကို အကျိုးရှိရှိ တိုက်ခိုက်ချေမှုန်းခြင်း (အနည်း ဆုံး) ဆုတ်ခွာစေခြင်း စသည်တို့ကို သင်ပြုလုပ်သင့် သည်။ ဤသို့ဖြင့် ရန်သူတို့ ယခုသိမ်းပိုက်ထားသည့် နယ်မြေဒေသမှ အရေးကြီးသောအစိတ်အပိုင်းများကို ထိန်းသိမ်းကာ ကျူလာမြို့နှင့် အတွင်းပိုင်းများကို အန္တ ရာယ်ကင်းစေနိုင်သည်။ အကယ်၍ မြို့စောင့် တပ် အလုံအလောက်မရှိသော ပီတာစဘတ် ရွှေမြို့ တော်ကို အင်အား တစ်စုံတစ်ရာဖြင့် ရန်သူတို့ ခြိမ်း - ခြောက်ခြင်း ပြုလာလျှင် ဤအဖြစ်မျိုးရောက်က သင်၏ တာဝန်မှတစ်ပါး အခြားမည်သူ၏ တာဝန်မျှ မဟုတ်ပြီ။ မော်စကိုမြို့ကြီး ကျဆုံးခြင်းကြောင့် . စိတ်နှလုံးပူ ဆွေးလျက်ရှိသော အမိတိုင်းပြည်ကြီး အပေါ်၌ သင် တာဝန်မကျေ တာဝန်ကြွေးဆပ်ရန် ကျန်သေးကြောင်းကို သတိရလေ။ သင် တာဝန်ကျေ ကငါချီးမြှင့်မြှောက်စားရန် အဆင်သင့်ရှိသည်ကို သင်သိပြီးဖြစ်သည်။ ထိုသို့ ချီးမြှင့်မြှောက်စားလို သောဆန္ဒသည် လျော့နည်းသွားခြင်း ရှိမည် မဟုတ်။

သို့သော်လည်း ငါနှင့်တကွသော ရုရှားနိုင်ငံကြီးသည် သင်၏ စိတ်အားထက်သန်မှု၊ ခိုင်မာပြတ်သားမှုနှင့် အောင်မြင်မှုတို့ကို မျှော်လင့်ရန် အခွင့်အရေးရှိသည်။ သင်၏ ဉာဏ်ပညာစစ်ရေးစစ်ရာ ကျွမ်းကျင်မှုနှင့် တကွ သင်ကွပ်ကဲသော တပ်တော်၏ သုရသတ္တိ ပြောင်မြောက်မှုတို့သည် ငါတို့၏ မျှော်လင့်ချက်ကို ဖြည့်စွမ်းနိုင်လိမ့်မည်ဟုလည်း ငါ ယုံကြည်တော်မူ သည်။

ဘုရင်ကေရာဇ်၏ ဖော်ပြပါစာချွန်ကိုကြည့်လျှင် စစ်တပ်နှင့် အင်အား အချိုးအစားပြောင်းလဲမှုကို ပီတာ စဘတ် ရွှေနန်းတော်ကြီးကလည်း အကဲခတ်မိပုံ ရလေ သည်။ သို့ရာတွင် စစ်သေနာပတိချုပ် ကူတူဇော့ဖ်ထံသို့ ဖော်ပြပါ စာချွန်

ရောက်ရှိမလာမီကတည်းကပင် ထိုးစစ် တိုက်ပွဲပြုလိုသော ရုရှားတပ်မတော်တို့ကို ကူတူဇောဗ်လည်း ထိန်းမထားနိုင်တော့ချေ။ တိုက်ပွဲတစ်ပွဲဖြစ်ပွားခဲ့ပြီးလေပြီ။

အောက်တိုဘာလ ၂-ရက်နေ့၌ ကင်းထွက်လျက် ရှိသော ရှာပိုဗာလော့ဆိုသူ ကော့ဆက် မြင်းတပ်သား တစ်ဦးသည် ယုန်တစ်ကောင်ကို ပစ်လာခဲ့၏။ အခြား ယုန် တစ်ကောင်မှာ ဒဏ်ရာရကာ ထွက်ပြေးသွားလေသည်။ ရှာပိုဗာလော့သည် ဒဏ်ရာရကာ ထွက်ပြေးသွားသော ယုန်နောက်သို့ လိုက်ရင်း တောနက်သို့ ရောက် သွားကာ ထိုတောထဲတွင် အကာအကွယ်မဲ့ စခန်းချလျက်ရှိသော ပြင်သစ်ဗိုလ်ချုပ် မျူးရတ်၏ စစ်တပ် လက်ဝဲတောင်ပံနှင့် ပက်ပင်းသွားတိုးမိသည်။ ပြင်သစ်တို့လက် မှ သီသီကလေး လွတ်လာခဲ့ရပုံကို ၎င်း၏ ရဲဘော်များအား ထိုကော့ဆက် တပ်သားက ရယ်ရယ်မောမောဖြင့် ပြောပြ၏။ ဤသတင်း ကို ကြားရသည်၌ အလံကိုင် ဗိုလ်ကလေးတစ်ဦးက တပ် မှူးထံ သွားရောက်သတင်းပို့လိုက်သည်။

ဤတွင် ကော့ဆက်မြင်းတပ်သားကို အခေါ်လွှတ် ကာ မေးမြန်းခြင်း ပြုသည်။ ကော့ဆက်မြင်းတပ်ဗိုလ်များ က ဤအခွင့်အရေးကို အရယူကာ ရန်သူ့ မြင်းများကို ဝင်ဖမ်းလိုကြသည်။ သို့ရာတွင် အထက်တန်း စစ်အာဏာ ပိုင်များနှင့် အဆက်အသွယ်ရှိသော အထက်တန်း အရာရှိ တစ်ယောက်ကို ထိုအဖြစ်အပျက်ကို စစ်ဦးဌာနရှိ ဗိုလ်ချုပ် တစ်ယောက်ထံသတင်းပို့လိုက်သည်။ စစ်ဦးဌာန၌ အခြေ အနေမှာ ထိုအချိန်တွင် ရှုပ်ထွေးတင်းမာလျက် ရှိသည်။ လွန်ခဲ့သည့် ရက် များမကြာမီက ဗိုလ်ချုပ်အာမိုလော့ဗ်သည် စစ်ဦးစီးချုပ် ဘင်နစ်ဆန်ကို သွားရောက် တွေ့ဆုံကာ ထိုး စစ်တစ်ရပ် ဆင်နွှဲရေးအတွက် စစ်သေနာပတိချုပ်ကို တိုက် တွန်းရန် မေတ္တာရပ်ခံခဲ့သည်။

"ဗိုလ်ချုပ်အကြောင်းကိုသာ ကျွန်တော်မသိခဲ့ရင် ကျွန်တော့်ကို ဗိုလ်ချုပ် ချောက်တွန်းမှာပဲလို့ ထင်မိမှာပဲဗျ။ ခက်တာက ကျွန်တော် ဘာအကြံပေးပေး

စစ်သေနာပတိ ချုပ်က ပြောင်းပြန်လုပ်မှာပဲဗျ။ အဲဒါ အလွန်သေချာတယ်” ဟု ဗိုလ်ချုပ်ဘင်နစ်ဆန်က ပြောလိုက်သည်။ ။

ကော့ဆက်မြင်းတပ်သား၏ သတင်းပို့ချက်ကို မြင်းတပ်ကင်းထောက်များ လွှတ်၍ စုံစမ်းအတည်ပြုပြီး ဖြစ်ရာ ၎င်း၏သတင်းပို့ချက်သည် အခြေအနေ ရင့်မှည့်နေ ပြီ ဖြစ်ကြောင်းကို ပြလိုက်သည့် နောက်ဆုံးသာဓကပင် ဖြစ်၏။ တင်းကျပ်စွာ ရစ်ခွေထားသော သံပတ်ကြီးကို ( ဖြေလွှတ်လိုက်လေပြီ။ နာရီကြီးသည် တဂျီးဂျီးမြည်လာကာ ဒေါင်ဒင်တီးစပြုလေပြီ။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် အပြင်အပန်းအားဖြင့် အာဏာအပိုင်ဆုံးပုဂ္ဂိုလ်ဖြစ် ၏။ အမြော်အမြင်ရှိသူ။ အတွေ့အကြုံရှိသူ တပ်သားများ အကြောင်းကို ကောင်းစွာ သိသူဖြစ်၏။ သို့သော်လည်း ကော့ဆက်မြင်းတပ်သား၏ သတင်းပို့ချက် ဘုရင်ဧကရာဇ် ထံ တိုက်ရိုက်အစီရင်ခံခွင့်ရှိသော ဘင်နှစ်ဆန်၏ မှာကြား လွှာဘုရင်ဧကရာဇ်၏ အလိုဆန္ဒနှင့်တကွ စစ်ဗိုလ်ချုပ် များအားလုံး၏ဆန္ဒများကို ကြားနာစစ်ဆေးပြီး သည့်နောက် ၌ကား စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ရှောင်လွှဲမရ သော လှုပ်ရှားမှုကြီးကို တားဆီးခြင်းငှာ မစွမ်း တော့ချေ။ အကျိုးမဲ့၍ ဥပဒ်များလှသည် ဟု ၎င်းယူဆသော အလုပ်ကြီး တစ်ခုကို ဆောင်ရွက်ရန် အမိန့်ပေးလိုက်ရလေပြီ။ အရှိကို အရှိအတိုင်း အသိအမှတ်ပြုလိုက်ရလေပြီ

# အခန်း ၄

ပြင်သစ်တို့၏ လက်ဝဲဘက်တောင်ပံ ဟင်းလင်းပွင့်လျက် ရှိသည်ဆိုသော ဘင်နစ်ဆန်၏ မှာကြားလွှာနှင့် ကော့ဆက် မြင်းတပ်သား၏ သတင်းပို့ချက် တို့သည် ထိုးစစ်တစ်ရပ်ကို ' ဆင်နွှဲရန် လိုအပ်ကြောင်း ဖော်ပြသည့်အရိပ်အရောင်

များ ဖြစ်လေသည်။ သို့ဖြင့် ထိုးစစ်ဆင်နွဲရန် အောက်တိုဘာလ ၅ ရက်နေ့ကို သတ်မှတ်လိုက်သည်။

အောက်တိုဘာလ ၄-ရက်နေ့ နံနက်၌ စစ်သေ နာပတိချုပ် ကူတူဇော့ဗ်သည် စစ်အင်္ဂါစဉ်များကို လက်မှတ် ရေးထိုးလိုက်လေသည်။ စစ်အင်္ဂါစဉ်များကို ဗိုလ်ချုပ်တိုးလ်က ဗိုလ်ချုပ်အာမိုလော့ဗ်အား ဖတ်ပြပြီးနောက် ကျန်ကိစ္စများကို တိုင်ပင်ဆွေးနွေးရန် ခေတ္တအစောင့်ခိုင်း ထားသည်။

"တိုင်ပင်ကြသေးတာပေါ့ ဗိုလ်ချုပ် ခုလောလော ဆယ်တော့ အချိန်မရှိသေးဘူးခင်ဗျ" ဗိုလ်ချုပ်အာမိုလော့ခ် သည် ပြောပြောဆိုဆိုနှင့် စာပြင်သို့ ထွက်သွား၏။

လ် ရေးဆွဲသော စစ်အင်္ဂါစဉ်မှာ ဩစတားလစ်စစ်ပွဲ စစ်အင်္ဂါစဉ်ကဲ့သို့ပင် အလွန်ကောင်း မွန်ပါသည်။ (ဤအကြိမ်တွင်မူ ဂျာမန်ဘာသာဖြင့် ရေးဆွဲ ထားခြင်း မဟုတ်ချေ။)

"ပထမစစ်ကြောင်းသည် ဤမှ ဤသို့ ချီတက် လာရမည်" ဒုတိယစစ်ကြောင်းများသည် သတ်မှတ်ထား သည့် နေရာသို့ သတ်မှတ်ထားသည့်အချိန်တွင် ရောက် ရှိကြကာ ရန်သူကို ချေမှုန်းပြီးသား ဖြစ်နေ၏။ စစ်အင်္ဂါ စဉ်များ၏ ထိုးစံအတိုင်း အစစအရာရာ ပြည့်စုံ ကောင်းမွန် လျက် ရှိ၏။ သို့ရာတွင် ဖြစ်မြဲထုံးစံအတိုင်း မည်သည့် စစ်ကြောင်းမျှ သတ်မှတ်ထားရာသို့ အချိန်မီ ရောက်မလာ ကြချေ။

လိုအပ်သော စစ်အင်္ဂါစဉ် စာတမ်းအရေအတွက် ကို ရေးကူးပြီးသည့်အခါ၌ တပ်ဗိုလ်တစ်ယောက်ကို ခေါ် ကာ ဗိုလ်ချုပ် အာမိုလော့ဗ်ထံ အပို့ခိုင်းလိုက်သည်။ ကူတူဇော့ဗ်၏ ကိုယ်ရံတော်တစ်ဦးဖြစ်သော အသက်ငယ် ငယ် ကိုယ်ရံတော် မြင်းတပ်ဗိုလ်ကလေးသည် မိမိအား အရေးကြီးသော ကိစ္စကြီးတစ်ရပ် ဆောင်ရွက်

ရန် လွှဲအပ် ခြင်း ခံရသည့်အတွက် ကျေနပ်နှစ်သိမ့်စွာဖြင့် ဗိုလ်ချုပ် အာမိုလော့ဗ်၏တပ်စခန်းဌာနချုပ်သို့ ထွက်လာခဲ့သည်။

"အပြင်ထွက်သွားတယ် ခင်ဗျ" ဗိုလ်ချုပ် အာမို လော့ဗ်၏ ကိုယ်ရံတော်က ပြော၏။

ကိုယ်ရံတော်မြင်းတပ်ဗိုလ်လေးသည် ဗိုလ်ချုပ် အာမိုဗ်ရှိတတ်သော အခြား ဗိုလ်ချုပ်တစ်ယောက်ထံ လာခဲ့သည်။

"မရှိဘူးခင်ဗျ။ ကျွန်တော်တို့ ဗိုလ်ချုပ်လဲ ထွက် သွားတယ်"

ဤတွင် တပ်ဗိုလ်လေးသည် မြင်းပေါ်သို့ တက်ကာ အခြားတစ်ယောက်ထံ လာခဲ့ပြန်သည်။

"မရှိဘူးခင်ဗျာ။ ဗိုလ်ချုပ် အပြင်ထွက်သွားတယ်"

"ကြာနေရင် ငါ့တာဝန်များ ဖြစ်နေမလား။ တော် တော်ခွကျတာပဲ" ဗိုလ်လေးသည် ဤသို့တွေးကာ မြင်း တစ်စီးဖြင့် တပ်စခန်းတစ်ခုလုံး နှံ့အောင်ရှာ၏။ ဗိုလ်ချုပ် အာမိုလော့ဗ်နှင့် အခြားဗိုလ်ချုပ်များ မြင်းကိုယ်စီဖြင့် ထွက် သွားသည်ကို မြင်လိုက်ကြောင်းဖြင့် တစ်ယောက်က ပြော ၍ ယခုအချိန်ဆိုလျှင် ပြန်ရောက်လောက်ပြီဖြစ်သည်ဟု အခြားတစ်ယောက်က ဆိုပြန်၏။ တပ်ဗိုလ်လေးသည် ထမင်းစားခြင်းပင် မပြုတော့ဘဲ ညနေခြောက်ချက်တီး အချိန်ထိ လိုက်ရှာသည်။ ဗိုလ်ချုပ်အာမိုလော့ဗ်ကို မည်သည့် နေရာတွင်မျှ ရှာမတွေ့ချေ။ မည်သည့်နေရာတွင် ရှိသည်ဟု မည်သူမျှလည်း မသိကြချေ။ တပ်ဗိုလ်လေးသည် မိတ် ဆွေတစ်ယောက်အိမ်တွင် ထမင်း ကသောကမျောစားကာ ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်ကိုလည်း မတွေ့ရချေ။ သို့ရာတွင် ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်မှာ ဗိုလ်ချုပ်ကီကင်၏

ညစာ စားပွဲနှင့် ကပွဲသို့ သွားကြောင်း ဗိုလ်ချုပ်အာမိုလေ့ဗ်လည်း ထိုနေရာတွင် ရှိမည်ထင်ကြောင်းဖြင့် သိခဲ့ရ၏။

"ဒါဖြင့် ဗိုလ်ချုပ် ကီကင်ရဲ့ အိမ်က ဘယ်မှာလဲဗျ"

"ဟိုမှာ။ အက်ချ်ကီနိုရွာရဲ့ ဟိုဘက်" ကော့ဆက် မြင်းတပ်ဗိုလ်တစ်ဦးက အဝေးတွင် ပျပျမြင်ရသော ကျေး လက်စံအိမ်တစ်လုံးကို ညွှန်ပြ၏။

"အလို ကျွန်တော်တို့ ကင်းဦးမျဉ်းတွေရဲ့ အပြင် ဘက်မှာပါလားဗျ"

"ကိစ္စမရှိပါဘူးဗျ။ တပ်ရင်းနှစ်ရင်း ကင်းချထားပါ တယ်။ အဲဒီမှာတော့ ပွဲကြီးပဲဗျို့။ ဇိမ်ပဲ။ တူရိယာအဖွဲ့ နှစ်ဖွဲ့နဲ့ အဆိုတော်ကောင်မလေးတွေလဲ သုံးဖွဲ့ ပါတယ်"

တပ်ဗိုလ်လေးသည် ရုရှားကင်းဦးမျဉ်းများ အပြင် ဘက်ရှိ အက်ရှ်ကီနိုရွာဆီသို့ မြင်းစီးလာခဲ့၏။ အိမ်ထဲမှ ထွက်ပေါ်လာသော စစ်သားကကွက် သီချင်းများကို အဝေး မှပင် ကြားရလေသည်။

"မြက်ခင်းပေါ်မှာ ပျော်ကြတယ်။ မြက်ခင်းပေါ်မှာ ပျော်တယ်" သီချင်းသံနှင့် အတူ လေချွန်သံနှင့် လက်စွဲ ဘာဂျာသံများကို ကြားရသည်။ တစ်ချီတစ်ချီတွင် အော်  သံများက ဖုံးလွှမ်းသွားကြ၏။ တပ်ဗိုလ်လေး၏ စိတ်မှာ တေးသံကို ကြားရသဖြင့် မြူးကြွလာခဲ့လေပြီ။ သို့ရာတွင် ဤမျှအရေးကြီးသော အမိန့်ကို အလျင်အမြန် ဆောင်ရွက် ခြင်း မပြုရသေးသလောဟု ကြိမ်းမောင်းခြင်း ခံရမည်ကို လည်း စိုးရိမ်လျက် ရှိသည်။ ထိုအချိန်၌ ညရှစ်ချက်တီး ကျော်ခဲ့လေပြီ။ တပ်ဗိုလ်လေးသည် မြင်းပေါ်မှ ဆင်းကာ ပြင်သစ်တပ်နှင့် ရုရှားတပ်များအကြားတွင် အကောင်း ပကတိ ရှိနေသေးသော ကျေးလက်စံအိမ်ကြီးတစ်လုံး၏ ဆင်ဝင်အောက်သို့ ဝင်လာခဲ့သည်။ အပန်းဖြေခန်းဆောင်၌ အဆောင်ကိုင်များသည် ဝိုင်

ပုလင်းများ၊ သိုးသားကြော် ပန်ကန်းများဖြင့် လူလားခတ်လျက်ရှိကြ၏။ အဆိုတော် များမှာ ပြတင်းအပြင်ဘက်တွင် အစုလိုက် ရပ်နေကြသည်။ ခန်းဆောင်ထဲသို့ ဝင်ခွင့်ရသည်အခါ၌ ဗိုလ်ချုပ် အာမို လော့ဗ်၏ ထောင်မောင်းသော အရပ်ကြီးသည် ထင်လျက် ရှိ၏။ ၎င်းတို့အားလုံးသည် စစ်ဝတ်စုံကြယ်သီးများကို ဖြုတ်ကာ ဝိုင်းဖွဲ့ ရပ်လျက် ရှိကြ၏။ ၎င်းတို့၏ မျက်နှာ များသည် နီမြန်းရှင်လန်းလျက် ရှိရင်းက ကျယ်လောင်စွာ ရယ်မောလျက်ရှိကြ၏။ ခန်းဆောင်းအလယ်၌ အရပ်ပြတ် ပြတ်၊ ဥပမိရုပ်ကောင်းကောင်း ဗိုလ်ချုပ်တစ်ယောက်သည် ထရီပတ်ခေါ် အကတစ်မျိုးကို သွက်လက်ဖျတ်လတ်စွာ ကလျက်ရှိသည်။ ။

"ဟား ဟား၊ ဗိုလ်ချုပ် အိုင်ဗန်နစ် ထပ်ကပါဦးဗျို့။ တစ်ချီလောက် ကပါဦး"

ဤမျှ အရေးကြီးသော အမိန့်ကို ဤလိုအချိန်အခါ မျိုးတွင် လာရောက်ပေးရသလောဟု နှစ်ထပ်ကွမ်း အကြိမ်း ခံရတော့မည်ကို တပ်ဗိုလ်လေး သိလိုက်လေပြီ။ ထို့ကြောင့် ကပွဲပြီးအောင် စောင့်တော့မည်ဟု အောက်မေ့လိုက်မိ သည်။ သို့ရာတွင် ဗိုလ်ချုပ်တစ်ယောက်က ၎င်းကို လှမ်းမြင်ကာ အကျိုးအကြောင်းကို သိရသည်၌ ဗိုလ်ချုပ် အာမိုလော့ဗ်ထံ သတင်းပို့လိုက်သည်။

ဗိုလ်ချုပ်အာမိုလော့ဗ်သည် မျက်မှောင်ကြီး ကုတ် ၍ ရောက်လာ၏။ ဗိုလ်လေးထံမှ သတင်းကို နားထောင်ပြီး နောက် စာရွက်များကို လှမ်းယူလိုက်သည်။ မည်သို့မျှ မပြောချေ။

"ဘာလဲ၊ ဗိုလ်ချုပ် အာမိုလော့ဗ် အိမ်မှာ မရှိတာ မတော်တဆဖြစ်တာလို့ ခင်ဗျားထင်သလား" ထိုနေ့ညသ္ဌ စစ်ဦးစီး၌ာနချုပ်ရှိ မိတ်ဆွေတစ်ယောက် ကိုယ်ရံတော် မြင်းတပ်ဗိုလ်လေးကို လှမ်းပြောလိုက်၏။ ၎င်းတို့သည် ဗိုလ်ချုပ်အာမိုလော့ဗ်အကြောင်းကို ပြောဆိုနေကြခြင်း ဖြစ်သည်။

“ဒါ တမင်သက်သက် လုပ်တာဗျ။ ဗိုလ်ချုပ် ကိုနိုနစ်ဆင် ချောက်ကျအောင် တမင်သက်သက် ရှောင်နေ တာ။ မနက်ဖြန်ကျရင် ဘာတွေဖြစ်ကုန်မလဲဆိုတာ စောင့် သာကြည့်ပါဗျာ တွေ့ရပါလိမ့်မယ်”

# အခန်း ၅

နောက်တစ်နေ့၌ အိုးမင်းလှပြီဖြစ်သော စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် နံနက်စောစောအိပ်ရာမှထကာ ဘုရား ဝတ်ပြုခြင်း၊ အဝတ်အစားလဲလှယ်ခြင်းတို့ကို ပြု၏။ ထို့နောက်၌ မိမိဘဝင်မကျသော တိုက်ပွဲတစ်ရပ်ကို ဦးစီး ညွှန်ကြားရတော့မည်ဟု ရှင်လန်းခြင်းမရှိသောစိတ်ဖြင့် ၎င်း၏ကရထားထက်သို့ တက်ကာ (တာရူတီနိုနှင့် သုံးမိုင် ခွဲခန့်ဝေးသော) လီဘာရှိုကာရွာမှ တိုက်ပွဲဝင်စစ်ကြောင်း များ ဆုံတွေ့မည်နေရာသို့ လာခဲ့လေသည်။ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်သည် ကရထားထက်တွင် အိပ်ငိုက်လာခဲ့ ရာမှ တစ်ချီတစ်ချီတွင် လန့်နိုးကာ တိုက်ပွဲစတင်ဖြစ်ပွား လေပြီလောဟူသော စိုးရိမ်စိတ်ဖြင့် လက်ယာဘက်ဆီသို့ အာရုံပြုလျက် ပစ်ခတ်သံများကို နားထောင်ခြင်းပြု၏။ သို့ရာတွင် ပတ်ဝန်းကျင်တစ်ခုလုံး တိတ်ဆိတ်လျက် ရှိ လေသည်။ စိုစွတ်ထိုင်းမှိုင်းသော ဆောင်ဦးပေါက် နံနက်၌ ( လင်းရောင်ပျိုးစပြုလေပြီ။ တာရူတီနိုရွာအနီးသို့ ချဉ်းကပ် လာသောအခါ၌ မြင်းတပ်သားအချို့ မိမိလမ်းကို ဖြတ် ကျော်ကာ မြင်းရေတိုက်သွားကြခြင်းကို မြင်ရ၏။ စစ်သေနာပတိချုပ်သည် ၎င်းတို့ကို စူးစိုက်ကြည့်ကာ ၎င်း၏ ကရထားကို ရပ်စေပြီးနောက် မည်သည့် တပ်ရင်း ကနည်းဟု မေးမြန်းစုံစမ်းခြင်း ပြုလေသည်။ စစ်သေနာ ပတိချုပ်သည် ၎င်းတပ်သားများမှာ ယခုအချိန်တွင် ရှေ့ တန်းစစ်မျက်နှာ၌ ချုံခိုနေရာယူပြီးဖြစ်ရမည့် စစ်ကြောင်း မှ တပ်သားများဖြစ်ကြောင်းကို သိရ၏။ “အိမ်းတလွဲတွေ ဖြစ်ကုန်ပြီ ထင်ပါရဲ့” ဟု စစ်သေနာပတိချုပ် အဘိုးအို တွေး၏။ သို့ရာတွင် အတန်ကြာသွားမိသောအခါ၌

လက်  နက်များကို စုပုံထားကြသော တပ်ရင်းများကို တွေ့ရ ပြန်သည်။ တပ်သား များမှာ ဝတ်စုံအပြည့်အစုံပင် မဝတ် ရသေး။ အချို့က ဂျုံစေ့ဆန်ပြုတ်သောက် လျက်ရှိ၍ အချို့ က ထင်းများသယ်လျက် ရှိကြသည်။ စစ်သေနာပတိ ချုပ်သည် တပ်ဗိုလ်တစ်ယောက်ကို ခေါ်လာရန် စေလွှတ် လိုက်၏။ ထွက်မိန့်မရသေးဟု တပ် ဗိုလ်က သတင်းပို့လေ သည်။

"ဘယ်လိုဖြစ်တာလဲကွ ခုထက်ထိ" စစ်သေနာ ပတိချုပ်သည် ပါးစပ်က ရုတ်တရက် ထွက်သွားပြီးမှ အရှိန်သတ်လိုက်ကာ အထက်တပ်ဗိုလ်တစ်ယောက် ကို `အခေါ်ခိုင်းလိုက်ပြန်သည်။ ထို့နောက် ရထားထက်မှ ဆင်း၍ အသက်ပြင်းစွာ ရှူရင်း ခေါင်းငိုက်စိုက်ချကာ ခေါက်တုံ့ ခေါက်ပြန်လျှောက်လျက် ရှိလေသည်။ မိမိ အခေါ်လွှတ် လိုက်သော စစ်ဦးစီးအရာရှိ အီခင်ရောက်သည် အခါ၌ စစ်သေနာပတိ ချုပ် ကူ တူ ဇော့ ဗ် ၏ မျက်နှာသည် နီမြန်းရာမှ ညိုပုပ်လာခဲ့လေပြီ။ ဤဒေါသအိုး ပေါက်ကွဲရခြင်းမှာ အမှားအတွက် အီခင်တွင် အပြစ်ရှိ၍ကားမဟုတ်။ မိမိ၏ ဒေါသ ကို စုပုံသွန်ချရန်အတွက် လောလောလားလား အရေးတကြီး ပုဂ္ဂိုလ်ဆို၍ မိမိအနီး တွင် အီခင်တစ် ယောက်သာ ရှိခြင်းကြောင့် ဖြစ်လေသည်။ စစ်သေနာ ပတိချုပ် အ ဘိုးအိုသည် တစ်ခါတစ်ရံတွင် မြေကြီးပေါ်၌ လူးလှိမ့်မိသည်အထိ ဖြစ်တတ်သော ပြင်းထန်လှသည့် ဒေါသမျိုးဖြင့် တစ်ကိုယ်လုံးတုန်ယင်ကာ အသက်ကိုပင် မှန်မှန် မရှူနိုင်တော့ဘဲ စစ်ဦးစီးဌာနချုပ် တပ်ဗိုလ်အီခင်ကို ခုန်အုပ်ကာ လက်နှစ်ဖက်ဖြင့် ရွယ်ရင်း အော်ဟစ်လျက် ရန့်ရင်းကြမ်းတမ်းလှသော စကားလုံးများဖြင့် ဆဲဆို လျက် ရှိလေသည်။ ၎င်းအနီးသို့ ရောက်လာသော ဘာမျှ သက် ဆိုင်ခြင်းမရှိသည့် ဗိုလ်ကြီးဘရိုဇင်ဆိုသူမှာလည်း အလား တူ"ဝက်ကဒဏ်ခံလိုက်ရသော အဖြစ်မျိုး ကို "ကြုံတွေ့ လိုက်ရသည်။

"ဒီမအေပေးကကော ဘယ်လိုမအေပေးလဲ။ မအေ ပေးတွေ အကုန်ပစ်သတ် ပစ်မယ်။ ငါရိုးမသားတွေ"စစ်သေ နာပတိချုပ် ကူတူဇော့ဗ်သည် ဒယီးဒယိုင်ဖြင့်

လက်နှစ်ဖက် ကို ငှေ့ယမ်းကာ ကြမ်းတမ်းအက်ကွဲသောအသံကြီးဖြင့် အော်ဟစ် ဆဲဆိုလျက် ရှိလေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကိုယ်ခန္ဓာ အားဖြင့်လည်း တကယ်ပင် ထိခိုက်နာကျင်လျက်ရှိလေပြီ။ ရုရှားနိုင်ငံတွင် မည်သူ မျှ မရှိခဲ့သေးသော အာဏာမျိုးကို ပိုင်ဆိုင်သူဟု ပြောကြသော စစ်သေနာပတိချုပ် ရင့်မကြီး တစ်ယောက်လည်းဖြစ်၊ မင်းသားကြီးတစ်ပါးလည်း ဖြစ် သော မိမိသည် ဤအခြေအနေသို့ရောက်ရသလော။ ရုရှား စစ်တပ်ကြီးတစ်တပ်လုံး၏ ရယ်မောစရာသတ္တဝါ အလုပ်ခံ သလော။ "ငါ့မှာဖြင့် ဒီနေ့ တိုက်ပွဲအတွက် အစောကြီး ထရဘုရားရှိခိုးရ မနေ့ညက တစ်ညလုံး စဉ်းစားရနဲ့ ခုတော့ ဒီမအေပေးတွေလုပ်တာနဲ့ အလကားဖြစ်ကုန်ပြီ" ဟု တစ်ယောက်တည်း တွေးလျက်ရှိ၏။ "တပ်ဗိုလ်ပေါက် စ လေး ဖြစ်တုန်းကတော့ ငါ့ကို ဘယ်သူမှ မလှောင်ရဲကြ ဘူး ခုမှ"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကြိမ်ဒဏ်ခံ ရသူကဲ့သို့ တစ်ကိုယ်လုံး နာကျင်လျက်ရှိကာ ဒေါသအမျက် ထွက်ခြင်း၊ နာကျင်ပြင်းပြခြင်းတို့ကြောင့် အော်ဟစ်လျက် ရှိသည်။ သို့ရာတွင် မကြာမီမှာပင် အင်အားကုန်ခန်းလာ ခဲ့လေပြီ။ ထို့နောက်၌ မိမိပတ်ဝန်းကျင်ကို လှမ်းကြည့်ကာ မိမိဒေါသတကြီး အော်ဟစ်ခဲ့ခြင်းကို သတိရလျက် ရထား ပေါ်သို့ ပြန်တက်ပြီးနောက် လာလမ်းအတိုင်း တိတ်ဆိတ်စွာ ပြန်လာခဲ့သည်။

၎င်းအမျက်ဒေါသသည်လည်း တစ်ကြိမ်ပေါက်ကွဲ ပြီးနောက် ပျောက်ကွယ်သွားလေပြီ။ စစ်သေနာပတိချုပ် သည် အကြောင်းပြချက်များ၊ ဆင်ခြေဆင်လက်များနှင့် တကွ အစီအစဉ်ပျက်သွားသော တိုက်ပွဲကို နက်ဖြန်တွင် စတင်သင့်ကြောင်းဖြင့် ပြောဆိုလျက် ရှိကြသော ဗိုလ်ချုပ် ဘင်နစ်ဆန်၊ ဗိုလ်ချုပ်ကိုနိုနစ်ဆင်နှင့် ဗိုလ်ချုပ်တိုးလ် တို့၏ တိုက်တွန်းချက်များကို (ဗိုလ်ချုပ် အာမိုလော့ဗ်မှာ နောက်တစ်နေ့ကျမှလာရောက် တွေ့ဆုံခြင်းပြုသည်) အနိုင် နိုင် အားယူ မျက်တောင်ခတ်ရင်း နားထောင်လျက် ရှိလေ သည်။ ဤအကြိမ်၌လည်း

စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် သဘောတူလိုက်ရသည်သာ ဖြစ်ပါ သတည်း။

# အခန်း ၆

နောက်တစ်နေ့ညနေ၌ ရုရှားတပ်များသည် ချိန်းဆိုထား သော နေရာတွင် စုရုံးကာ ညတွင် ချီတက်လာခဲ့ကြ သည်။ ထိုညမှာ တိမ်ညိုတို့ ဖုံးအုပ်လျက်ရှိသည့် ဆောင်း ဦးပေါက်ညချမ်းဖြစ်သော်လည်း မိုးရွာခြင်းမရှိချေ။ မြေပြင် သည် စိုစွတ်လျက်ရှိ၏။ သို့ရာတွင် ရွှံ့ဗွက်များမရှိချေ။ သို့ဖြင့် တပ်များသည် တိတ်ဆိတ်စွာ ချီတက်လာခဲ့ကြ သည်။ တစ်ခါတစ်ရံမှသာ အမြောက်တပ်မှ ခြူသံများကို သဲ့သဲ့ ကြားရသည်။ တပ်သားများကိုလည်း စကားကျယ် ကျယ် မပြောရန်၊ ဆေးလိပ်မသောက်ရန်၊ မီးခတ် မခတ် ရန် အမိန့်ထုတ်ထား၏။ မြင်းဟီသံ မထွက်စေရန်လည်း နည်းအမျိုးမျိုးဖြင့် ကြိုးစားကြ၏။ အလုပ်တစ်ခုကို လျှို့ဝှက် လုပ်ကိုင်ရခြင်းသည် ထိုအလုပ်အား ခံမင်မက်မောစိတ် ကိုပို၍ ထက်သန်စေပေသည်။ သို့ဖြင့် ၎င်းတို့သည် ရွှင် လန်းစွာ ချီတက်ခဲ့ကြသည်။ အချို့စစ်ကြောင်းများမှာ ၎င်းတို့ သတ်မှတ်ထားသည့် နေရာသို့ ရောက်ပြီအထင်ဖြင့် တန်းဖြုတ် ရပ်နားကြသည်။ လက်နက်များကို စုပုံကြ သည်။ အေးစက်သော မြေကြီးပေါ်တွင် လဲလျောင်းကြသည်။ သို့ရာတွင် တပ်အများစုကား တစ်ညလုံး ချီတက် ခဲ့ကြကာ ၎င်းတို့အတွက် သတ်မှတ်ထားခြင်း မပြုသော နေရာများသို့ ရောက်ရှိလာခဲ့ကြပေသည်။ ။

မိမိတို့အတွက် သတ်မှတ်ထားသော နေရာသို့ အချိန်မီ ရောက်ရှိလာသူမှာ မြို့စားဩလော့ဗ်နှင့် ၎င်း၏ ကော့ဆက်မြင်းတပ်အချို့သာဖြစ်၏။ (စစ်စစ်၌ ထို တပ်မှာ တပ်အားလုံးအနက် အရေးမကြီးဆုံးတပ်ခွဲကလေး တစ်ခွဲ သာ ဖြစ်ပါသည်)

ထိုတပ်ခွဲသည် စထရိုမီလိုဗာမှာ ဒမီထ ရော့ရွာသို့ သွားရာလမ်းပေါ်ရှိ တောစပ် ကလေးတစ်ခုတွင် ရပ်နားလိုက်သည်။

အရုဏ်လာခါနီး၌ ပြင်သစ်တပ်ပြေးတစ်ယောက် ကို ခေါ်ဆောင်လာကြသဖြင့် တပ်မှူးမြို့စား ဩလေ့ဇ်သည် ငိုက်မျဉ်းရာမှ နိုးလာ၏။ ထို့တပ်ပြေးမှား (နပိုလီယန်လက် အောက်တွင် အမှုထမ်းလျက်ရှိသော) ပိုလန်ဗိုလ်ချုပ်ပိုနီယာ တို စကီ၏တပ်ဖွဲ့မှ ပိုလန်လူ မျိုး တပ်ကြပ်ကြီးတစ်ဦး ဖြစ်၏။ မိမိအား တပ်ထဲတွင် နှိမ်ထားခဲ့ကြကြောင်း၊ တပ်ဗိုလ်ဖြစ်သင့်သည်မှာကြာပြီဖြစ်ကြောင်း၊ မိမိသည် ပြင်သစ်တို့ထက် တိုက်ရဲခိုက်ရဲရှိကြောင်း၊ ၎င်းတို့ကို လက်စားချေလိုသဖြင့် ထွက်ပြေးလာခဲ့ခြင်း ဖြစ်ကြောင်း ဖြင့် ၎င်းက ပိုလန်စကားဖြင့် ပြောပြ၏။ ပြင်သစ်ဗိုလ်ချုပ်မူးရတ်သည် ယခုနေရာနှင့် ခရီးငါးရာတွင်းအကွာတွင် မနေ့ညက စခန်းချလျက်ရှိကြောင်း၊ မိမိအား လူတစ်ရာပေး ပါက ၎င်းတို့ကို အရှင်ဖမ်းပေးမည် ဖြစ်ကြောင်း ဖြင့်လည်း ပြောပြလေသည်။ ၎င်း၏စကားမှာ မစားရဝခမန်းဖြစ်၏။ အားလုံးကပင် သူလိုက်မည် ငါလိုက်မည်ဟု အလုအယက် စာရင်းပေးကာ တစ်ပွဲတစ်လမ်း စမ်းကြည့်ရန် တောင်းဆို ကြသည်။ သို့ဖြင့် အတန်ကြာ ငြင်းခုံဆွေးနွေးပြီးနောက် ဗိုလ်ချုပ်မှူး ဂရီကော့ဗ်ကကော့ဆက်တပ်ရင်းနှစ်ရင်းကို ခေါ်ကာ ပိုလန် တပ်ကြပ်ကြီးနှင့် လိုက်သွားရန် ဆုံးဖြတ် လိုက်သည်။

"ဟော့ကောင် တစ်ခုတော့ ပြောလိုက်မယ်နော်" သွားခါနီးတွင် မြို့စားဩလေ့ဇ်က ပိုလန်တပ်ကြပ်ကြီးကို လှမ်းပြောလိုက်သည်။ "တို့ကို တစ်ပတ်ရိုက်ရင်တော့ မင်းကို ခွေးသတ်သလို သတ်မှာ သိရဲ့လား။ သတင်း မှန်ရင်တော့ မင်းကို ရွှေစတစ်ရာ[5] ဆုချမယ်။ ဟုတ်လား"

ပိုလန်တပ်ကြပ်ကြီးသည် ဘာမျှမပြောဘဲပြတ်သား ရဲရင့်သော အမူအရာဖြင့် မြင်းပေါ်သို့ တက်လိုက်ပြီးနောက် ဗိုလ်ချုပ်မှူး ဂရီကော့ဗ်နှင့်အတူ စီးထွက်

သွားသည်။ ၎င်း ၏ တပ်သားများလည်း နောက်က ထက်ကြပ်စီးလိုက် သွားကြရာ ခဏကြာလျှင် တောထဲသို့ ဝင်ရောက်ပျောက် ကွယ်သွားကြ၏။ မြို့စား ဩလေဗ်သည် ဗိုလ်ချုပ်မှူး ဂရီကော့ဗ်ကို လိုက်၍ နှုတ်ဆက်ပြီးနောက် တပ်နားရာ သို့ ပြန်လာခဲ့သည်။ အရုဏ်ဦး အအေးဒဏ်ကြောင့် ခိုက် ခိုက်တုန်လျက်ရှိ၏။ အမိန့်မရှိဘဲ မိမိသဘောနှင့် လုပ်ကိုင် မိသည့်အတွက်လည်း စိတ်လှုပ်ရှားလျက် ရှိလေသည်။ မြို့စား ဩလေဗ်သည် ဝေလီဝေလင်း အရုဏ်ခြည်တွင် ရေးရေးပျပျမြင်ရသော ရန်သူတပ်စခန်းနှင့် ငြိမ်းလုဆဲ စခန်းမီးပုံများကို လှမ်းမျှော်ကြည့်လျက် ရှိ၏။ စစ်အင်္ဂါ စဉ်အရဆိုလျှင် မိမိလက်ယာဘက်ရှိ ကုန်းစောင်းကလေး ပေါ်တွင် မိမိတို့၏ စစ်ကြောင်းများ စတင်ရောက်ရှိသင့် ကြပြီဖြစ်၏။ ထို့ကြောင့် မြို့စားဩလောဗ်သည် ထိုကမူ  ကလေးဘက်ဆီသို့ လှမ်းကြည့်မိသည်။ စစ်ကြောင်းများရောက်ပြီဆိုလျှင် မြင်ရလောက်ပေပြီ။ သို့ရာတွင် ဘာကိုမျှ မမြင်ရသေးချေ။ ထိုအခိုက် ပြင်သစ်တပ်စခန်းဆီတွင် လှုပ်လှုပ်ရွရွ ဖြစ်သွားသည်ဟု ထင်လိုက်မိသည်။ မျက်စိ လျင်သော ၎င်း၏ တပ်ရေးကလည်း ထိုအချက်ကို အတည် ပြုသည်။

"နောက်ကျသွားပြီထင်တယ်ဟေ့"မြို့ စားဩ လေဗ်က ပြင်သစ်စခန်းဘက်သို့ လှမ်းကြည့်ရင်း ပြော သည်။

မိမိ ယုံယုံကြည်ကြည် စေခိုင်းလိုက်သူ မျက်စိ အောက်မှ ကွယ်သွားသည့် အခါ ဖြစ်လေ့ရှိကြသည့်အတိုင်း တပ်ကြပ်သည် စစ်ပြေးဟန်ဆောင်လာလေသလော၊ မိမိ အား လိမ်သွားလေသလော၊ ကော့ဆက် မြင်းတပ်ရင်း နှစ်ရင်းကို ထည့်လိုက်မိခြင်းကြောင့် မိမိတို့ ထိုးစစ်တစ်ခုလုံး ဖရိုဖရဲဖြစ်သွားချေတော့မည်လော ပိုလန်တပ်ကြပ်ကြီး သည် မိမိတပ်ရင်းနှစ်ရင်းကို မည်သည့်နေရာသို့ခေါ်ဆောင် သွားလေသနည်းဟူသော အတွေးတို့သည် မြို့စားဩလေဗ် ၏ ခေါင်းထဲသို့ ရောက်လာခဲ့လေပြီ။ ဤမျှများပြားလှသော ပြင်သစ်တပ်များအလယ်ကောင်

တွင် ၎င်း၏စစ်သေနာပတိ ချုပ်ကို ဖမ်းဆီးမည်ဆိုသည်မှာ မည်သို့ဖြစ်နိုင်မည်နည်း။

“ခွေးသားတော့ တို့ကို တစ်ပတ်ရိုက်သွားပြီ ထင် တယ်” မြို့စားကြီး ဩလေ့ဗ်က ပြောလိုက်သည်”

“လိုက်ခေါ်မယ်ဆိုရင်တော့ မီသေးတယ်ခင်ဗျ” ပြင်သစ်တို့၏ စခန်းကို လှမ်းမျှော်ကြည့်ရင်း မြို့စား ဩလေ့ဗ် ကဲ့သို့ပင် မယုံမရဲဖြစ်လျက်ရှိသည့် တပ်ဗိုလ်တစ်ယောက်က ပြော၏။

“အေး ပြန်ခေါ်ရင် ဉာယ်နှယ်နေမလဲ။ ခေါ်ရ ကောင်းမလား”

“ဗိုလ်ချုပ် ပြန်ခေါ်ချင်သလား ဗိုလ်ချုပ်” ' “သွားကွာ မြန်မြန်ပြန်ခေါ်ချည်၊ မြန်မြန်သွား” မြို့စားကြီး ဩလေ့ဗ်က လက်မှနာရီကို ငုံ့ကြည့်ရင်း ရုတ်တရက် ဆုံးဖြတ်၍ ပြောလိုက်၏။

သိပ်နောက်ကျသွားလိမ့်မယ်။ ခုတောင် တော်တော် လင်းနေပြီ”

တပ်ရေးသည် တောထဲတွင် မြင်းကို ဒုန်းရိုက်စီးကာ ဗိုလ်ချုပ်မှူး ဂရီကော့ဗ်နောက်သို့ လိုက်သွား၏။ မိမိကြံ  ရွယ်ချက်ကို ဖျက်သိမ်းလိုက်ရခြင်း၊ လက်ယာဘက် ကမူစောင်းတွင် မိမိတို့စစ်ကြောင်းများ ပေါ်မလာလေခြင်း ရန်သူစခန်းနှင့် နီးကပ်လျက်ရှိခြင်းတို့ကြောင့် ဗိုလ်ချုပ်မှူး ဂရီကော့ဗ် ပြန်ရောက်လာသည့်အခါ၌ မြို့စား ဩလေ့ဗ် အလွန်အမင်း စိတ်လှုပ်ရှားလျက်ရှိလေပြီ။ ထို့ကြောင့် ဝင်တိုက်ရန် ဆုံးဖြတ်လိုက်သည်။ ၎င်း၏တပ်သားများမှာ လည်း ထိုနည်းတူ စိတ်လှုပ်ရှားလျက် ရှိကြသည်။

“မြင်းပေါ်တက်” ၎င်း၏ ခပ်တိုးတိုး အမိန့်ပေး လိုက်သည်။ တပ်သားများသည် နေရာယူကာ လက်အုပ် ချီဆုတောင်းလိုက်ကြ၏။

“တက်”

“ဟူရား”ဟု အော်သံသည် တောထဲတွင် ပဲ့တင်၊ မြည်ဟည်းသွား၏။ အိတ်ကို သွန်ချလိုက်သကဲ့သို့ ကော့ ဆက်မြင်းတပ်သားများသည် လှံများကို ကိုင်ကာ စီးတက် လာကြပြီးနောက် စမ်းချောင်းကို ဖြတ်ကျော်၍ ရန်သူ့ စခန်းကို တဟုန် ထိုးစီနင်းတိုက်ခိုက်ခြင်း ပြုကြလေသည်။

ကော့ဆက်မြင်းတပ်တို့ကို ပထမဆုံး မြင်လိုက် သော ပြင်သစ်တပ်သား၏ ထိတ်လန့်တကြားငယ်သံ ( ပါအောင် အော်ဟစ်သံကြောင့် စခန်းရှိ အိပ်ရာမှ နိုးစ၊ အဝတ်အစားများ ဖရိုဖရဲနှင့် ပြင်သစ်တပ်သားများသည် အမြောက် မြတပူများ တစ်လုံးထိုးသေနတ်များ၊ မြင်း များကို စွန့်ပစ်ကာ ခြေဦးတည့်ရာသို့ ထွက်ပြေးကြ လေ သည်။

အကယ်၍သာ ကော့ဆက်မြင်းတပ်သားများသည် မိမိတို့နောက်နှင့် မိမိတို့ ပတ်ဝန်းကျင် အခြင်းအရာကို လှမ်းကြည့်ခြင်းမပြုဘဲ ပြင်သစ်တို့ကို လိုက်လံ တိုက်ခိုက် မည်ဆိုက ပြင်သစ်ဗိုလ်ချုပ် မူရတ်နှင့်တကွ လက်နက် ခဲယမ်းမီးကျောက်များ အားလုံးကို လက်ရာဖမ်းဆီးမိမည် ဖြစ်၏။ ၎င်းတို့ကလည်း အလိုရှိကြ၏။ သို့ရာတွင် ရန်သူသုံးပန်းတစ်ထောင့်ငါးရာနှင့် အမြောက်ကြီး သုံးဆယ့် ရန်သူသုံ့ပန်းများနှင့် ရန်သူ့ပစ္စည်းများကို ရရှိသောအခါ ၌ကား ကော့ဆက် မြင်းတပ်သားများကို ကုတ်နှင့် ကော် ထုတ်သော်လည်း ရမည်မဟုတ်တော့ချေ။ မည်သူမျှ အမိန့် ကို နာခံခြင်းမပြုကြတော့ချေ။ ထိုတိုက်ပွဲ၌ ရှစ်လက်ကို ချက်ချင်း ရရှိလိုက်လေသည်။ ထိုမျှမက စစ်တံခွန်များ (၎င်းတို့မှာ ကော့ဆက်မြင်းတပ်များ အမြင်၌ အရေးအကြီး  ဆုံး ပစ္စည်းများ ဖြစ်သည်။) မြင်းများ၊ ကုန်းနှီးများ၊ မြင်း ခြုံ ဝတ်ရုံများ စသည်တို့ကိုလည်း ရမိလိုက်သေးသည်။ ဤပစ္စည်းများအားလုံးကို စီမံ ခန့်ခွဲရဦးမည် မဟုတ်လော။ ထို့ကြောင့် သုံ့ပန်းများအား နေရာချခြင်း၊ ဖမ်းမိပစ္စည်း များကို ခွဲဝေပေးခြင်း (ဤကိစ္စ၌ အချင်းချင်း အော်ဟစ် ငြင်းခုံခြင်း၊ အချင်းချင်း

ရန်ဖြစ် သတ်ပုတ်ခြင်းတို့မပါဘဲ ကိစ္စမပြီးပါ။) တို့ကို ပြုလုပ်ရသေးသည်။ ကော့ဆက်မြင်း တပ်သားများသည် ဤသို့ဖြင့် ကိုယ့်ကိစ္စနှင့်ကိုယ် အလုပ် များ ကျန်ရစ်ခဲ့ကြခြင်း ဖြစ်လေသည်။ ။

နောက်ထပ် လိုက်လံတိုက်ခိုက်ခြင်း မခံရသည့် အခါ၌ ပြင်သစ်တို့သည် အကွဲကွဲဖြစ်နေရာမှ ပြန်စုကာ အမြောက်များဖြင့် စတင်ပစ်ခတ်ခြင်း ပြုကြလေသည်။ နောက်ထပ်စစ်ကြောင်းကို စောင့်လျက်ရှိသော မြို့စား ဩလေ့ဗ်သည်လည်း ရှေ့သို့ ချီတက်ခြင်း မပြုတော့ချေ။

ထိုအချိန်၌ “ပထမစစ်ကြောင်းသည် မည်သို့မည် ပုံချီရမည်” ဟု စစ်အင်္ဂါစဉ်တွင် ဖော်ပြထားသည်နှင့်အညီ နောက်ကျရောက်လာသော စစ်ကြောင်းမှ ခြေလျင်တပ်များ သည် ဗိုလ်ချုပ်တိုးလ်၏ ညွှန်ကြားချက်နှင့် ဗိုလ်ချုပ် ဘင်နစ်ဆန်၏ ကွပ်ကဲမှုဖြင့် အစီအစဉ်အတိုင်း စတင် ချီတက်လာခဲ့ကြ၏။ သို့ရာတွင် ထုံးစံအတိုင်း သတ်မှတ် ထားသောနေရာသို့ မရောက်ဘဲ မလိုရာသို့ ရောက်သွားကြသည်။ ထိုအခါမျိုး၌ ဖြစ်မြဲထုံးစံအတိုင်း ရွှင်ရွှင် လန်းလန်း ချီတက်လာခဲ့ကြသော တပ်သားများသည် စိတ်ဓာတ်ကျလာကြ၏။ ညည်းညူစပြုလာကြ၏။ ရုတ်ရုတ်သဲသဲဖြစ်လာကြ၏။ နောက်သို့ ဆုတ်လာကြ၏။ တပ်ရေးများနှင့် ဗိုလ်ချုပ်များသည် မြင်းကိုယ်စီဖြင့် တပ်ထိပ်တပ်ဖျား ပြေးကာ အော်ဟစ်ကြ၏။ စိတ်ဆိုးကြ၏။ ရန်ဖြစ်ကြ၏။ လမ်းမှားပြီး နောက်ကျပြီးဟု ညည်းတွားကြ၏။ ဆဲရေးတိုင်းထွာကြ၏။ နောက်ဆုံး၌ တပ်စုကို စုစည်းကာ ချီတက်လာခဲ့ကြ၏။ သို့ရာတွင် တလွဲသို့ရောက်သွားသည်သာ ဖြစ်ပါသတည်း။ တစ်နေရာ ရာတော့ ရောက်လိမ့်မပေါ့” ဟု တစ်ယောက်ကို တစ် ယောက် ပြောကြ၏။ မှန်ပါသည်။ တစ်နေရာသို့ ရောက် ကြပါသည်။ သို့ရာတွင် ၎င်းတို့ရောက်လိုသော တစ်နေရာ မဟုတ်ပါ။ အလွန်သေးငယ်သော အနည်းစုကလေးကား လိုရာသို့ ရောက်သွား

ကြ၏။ သို့ရာတွင် နောက်ကျလေပြီ။  အသုံးမဝင်တော့ပြီ။ ရန်သူ့ အပစ်ခံရန် အချိန်မနှောင်းမီ ( အရောက်သွားသကဲ့သို့သာ ရှိတော့သည်။ ဩစတားလစ် စစ်ပွဲ တုန်းက ဗိုလ်ချုပ်ဝေရိုသာ "ဆရာကြီး" နေရာယူ သကဲ့သို့ ယခုတိုက်ပွဲတွင် ဆရာကြီးနေရာကို ယူထားသော ဗိုလ်ချုပ်တိုးလ်သည် အလွန်အရေးတကြီး ကြိုးစားဟန်ဖြင့် ထိုမှဤမှမြင်းဒုန်းစီး၍ လျှောက်ကြည့်သည်။ နေရာတကာ တွင် အကွဲကွဲ အပြဲပြဲ ဇောက်ထိုးမိုးမျှော်ဖြစ်လျက် ရှိ ခြင်းကိုသာ တွေ့ရသည်။ ဤသို့ လျှင် မြင်းတစ်စီးဖြင့် အရေးကြီးလျက်ရှိသော ဗိုလ်ချုပ်တိုးလ်သည် မိုးစင်စင် လင်း သည့်အခါကျမှ ဗိုလ်ချုပ်ဘာဂိုဗတ်၏အဖွဲ့နှင့် တော အုပ်ထဲတွင် ပက်ပင်းသွား တွေ့သည်။ (စင်စစ်၌ ထိုတပ်မှာ မြို့စားဩလေ့ဇ်တပ်နှင့် မိုးမလင်းမီကတည်းက ပေါင်းပြီး သား ဖြစ်နေရမည် ဖြစ်၏။) ဗိုလ်ချုပ်တိုးလ်သည်၎င်း၏ အစီအစဉ်များ ဖရိုဖရဲဖြစ်ကုန်သည့်အတွက် စိတ်ဆိုးလျက် ရှိသည်။ ထိုသို့ဖြစ်ရခြင်းမှာ တစ်စုံတစ်ယောက်၏ တာဝန် သာ ဖြစ်ရမည်ဟုလည်း ယူဆသည်။ ထို့ကြောင့် ဗိုလ်ချုပ် ဘာဂိုဗတ်ကို ပစ်သတ်ဖို့သာ ကောင်းတော့သည်ဟု ဆိုကာ ပြင်းထန်စွာ ပြစ်တင်မောင်းမဲခြင်း ပြုလေသည်။ ဗိုလ်ချုပ် ဘာဂိုဗတ်သည် စကားများများ ပြော လေ့မရှိ။ စစ်ကိုသာ တိုက်တတ်သော စစ်သားကောင်းလူအေးကြီးတစ်ယောက် ဖြစ်၏။ သို့ရာတွင် တပ်များချီတက်ရာ၌ နှောင့်နှေးကြန့် ကြာရခြင်း အရှုပ်ရှုပ် အထွေးထွေးဖြစ်ခြင်း၊ တစ်ယောက် တစ်မျိုး လုပ်နေကြခြင်းတို့ကြောင့် စိတ်တို လျက်ရှိလေပြီ။ ဤအထဲတွင် ဗိုလ်ချုပ်တိုးလ်က သဟောက်သဟဲလုပ် လာသည့် အခါတွင်မူကား အကြီးအကျယ် ဒေါပွကာ ၎င်း ၏ ပင်ကိုစရိုက်နှင့် ဆန့်ကျင်လျက် လူ တိုင်းက အံ့ဩ လောက်အောင် ဗိုလ်ချုပ်တိုးလ်ကို မိုက်မိုက်ရိုင်းရိုင်း ပြန် ပြော လွှတ်လိုက်၏။

"ကျုပ်ကိုလာပြီး ဆရာလုပ်မနေနဲ့ဗျ။ ကျုပ်က ဘယ်သူ့ကိုမှလဲ ဆရာမလုပ် ဘူး။ ဘယ်သူ့တပည့်မှလဲ မခံဘူး။ ကျုပ်တပ်သားတွေနဲ့အတူ အသေခံရဲတဲ့

ကောင်”

ဗိုလ်ချုပ်ဘာဂိုဗတ်သည် ဤသို့ဆိုကာ တပ်မကြီး ( တစ်တပ်တည်းနှင့် ရှေ့သို့ ဖွတ်တိုးသွား၏။

ရန်သူ ကျည်ပစ်အားများသည့် ကွင်းပြင်တစ်ခုထဲ သို့အရောက်၌ သတ္တိကောင်းသော ဗိုလ်ချုပ်ဘာဂိုဗတ်သည် ရန်သူသည် တဖျောဖျာပစ်ခတ်လျက် ရှိရာသို့ တပ်သား သည်။

များကို ရှေ့ဆုံးမှ ခေါင်းဆောင်ကာ အတင်းတိုးဝင်သွား သည်။ ဒေါပွလျက်ရှိခြင်းဖြင့် တပ်မကြီးတစ်တပ်နှင့် ဝင်ရောက်တိုက်ခိုက်ခြင်းဖြင့် အကျိုးရှိမရှိကို မစဉ်းစား နိုင်တော့ချေ။ သက်စွန့်ဆံဖျား အလုပ်နှင့် အမြောက်ဆန်၊ ကျည်ဆန်စသည်တို့ကား စိတ်ဆိုးလျှင် ဗိုလ်ချုပ် ဘာဂို ဗတ် အတောင့်တဆုံးအရာများ ဖြစ်ပေသည်။ ဤသို့ဖြင့် ဗိုလ်ချုပ်ဘာဂိုဗတ်၏ တပ်မသည် ရန်သူကျည်ပစ်အားအောက်တွင် အချိန်အတော်ကြာမျှ အကျိုးမဲ့ အချည်းနှီး ငုတ်တုတ်စင်းခံခဲ့ရလေသတည်း။

# အခန်း ၇

ထိုအတောအတွင်း၌ အခြားသောစစ်ကြောင်းတစ်ကြောင်း က ပြင်သစ်တို့ကို ရှေ့မှ ထိပ်တိုက်ဝင်တိုက်ရန် ဖြစ်သည်။ သို့ရာတွင် စစ်သေနာပတိချုပ်ကူတူဇော့ဗ်မှာ ထိုစစ်ကြောင်း နှင့်အတူ ပါလာလေသည်။ မိမိ၏ဆန္ဒမပါဘဲ တိုက်ခိုက်ရသော ဤတိုက်ပွဲမှ ရှုပ်ထွေးမှုအပြင် အခြားအကျိုးတရား ဘာမျှ ပေါ်ပေါက်လာမည် မဟုတ်ခြင်းကို စစ်သေနာပတိ ချုပ် ကူတူဇော့ဗ် ကောင်းစွာသိ၏။ ထို့ကြောင့် စစ် သေနာပတိချုပ်သည် ၎င်း၏တပ်များ ချီတက်ရေးကို အတတ်နိုင်ဆုံး

နှောင့်နှေးအောင် ပြုလုပ်လျက်ရှိလေသည်။ စစ်သေနာပတိချုပ်သည် ရှေ့သို့ချီ တက်ခြင်း မပြုတော့ချေ။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ၎င်း၏ ဖောင်းဝတ်ပြာရောင် မြင်းပု ကလေးကို စီးကာ တိုက်စစ်ပြု ရန် ပေးလာသော အကြံဉာဏ်များကို စိတ်မပါ့တပါ ဖြေ ကြားလျက်ရှိ၏။

"ခင်ဗျားတို့ ပါးစပ်ကတော့ တိုက်ပါတိုက်ပါလို့ အမြဲပြောနေကြတာပဲ။ ဒါပေမဲ့ ဒီလောက်ရှုပ်ထွေးတဲ့စစ် ဆင်ရေးစီမံကိန်းကို ဘယ့်နှယ်လုပ် အကောင်အထည် ဖော်မလဲဗျ။ ဒါကိုတော့ နည်းနည်းလေးမှ ထည့်မစဉ်းစား ကြဘူ " စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် တိုက်စစ် ပြုရန် အမိန့်တောင်းလျက်ရှိ သော ဗိုလ်ချုပ် မီလိုရာဒိုဗစ် ချ်ကို လှမ်းပြောလိုက်၏။

"မူးရတ်ကိုလဲ အရှင်ဖမ်းလို့ရမှာမဟုတ်ဘူး။ သတ်မှတ်ထားတဲ့နေရာကိုလဲ အချိန်မီရောက်မှာ မဟုတ် ဘူး။ ဘာမှဖြစ်မှာ မဟုတ်ဘူး" ဟု အခြားတစ်ယောက် ကို လှမ်းပြောလိုက်ပြန်သည်။

ပြင်သစ်စစ်တပ်နောက်ဖျား၌ ယခုအချိန်တွင် ပိုလန်တပ်ရင်းနှစ်ရင်း ရောက် နေပြီဟု ကြားရသောအခါ၌ (စောစောပိုင်း ကော့ဆက်မြင်းများတပ်များ၏ သတင်းပို့ ချက်အရဆိုလျှင် ပြင်သစ်တပ်နောက်ဖျား၌ ဘာမျှ မရှိ၊ ဟင်းလင်းပွင့် နေသည်ဟု ဆိုသည်။" စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် မိမိနောက်နားရှိ ဗိုလ်ချုပ်အာမိုလေ့ဗ်ကို စောင်းငဲ့ကြည့်လိုက်သည်။ စစ်သေနာပတိချုပ်သည် ဗိုလ် ချုပ်အာမိုလေ့ဗ်အား မနေ့ကကိစ္စဖြစ်ကတည်းက စကား မပြောသေးချေ။

"မြင်တယ်မဟုတ်လား။ စီမံကိန်းတွေ အမျိုးမျိုး ဆွဲပြီး တိုက်ပါတိုက်ပါလို့ သာ တဖွဖွ ပြောနေကြတာ။ ကတယ်ကျတော့ ဘာမှအဆင်သင့် ဖြစ်သေးတာ

မဟုတ် ဘူး။ ရန်သူက ဒီလိုမဟုတ်ဘူးဗျ။ အကုန်လုံး ကြိုတင်သိ ပြီး ပြင်ဆင်ထား ပြီးပြီ”

ဗိုလ်ချုပ်အာမိုလေ့ဗ်သည် ထိုစကားကို ကြား သောအခါ၌ မျက်လုံးမှေးလာ ခပ်ယဲ့ယဲ့ပြုံးလိုက်သည်။ မုန် တိုင်းကြီးသည် မိမိအပေါ်မှ ကျော်ဖြတ်ပျောက်ကွယ် သွား ကာ လေပြည်လေညင်းတိုက်ခတ်လာပြီကို ဗိုလ် ချုပ်အာမို လေ့ဗ်သိလိုက် သည်။ စစ်သေနာပတိချုပ်သည် ဤနည်း ဖြင့် မိမိအပေါ်တွင် ဒေါသဖြစ်နေခြင်းကို ဖြေဖျောက်လျက် ရှိကြောင်း ဗိုလ်ချုပ်အာမိုလေ့ဗ်သိလိုက်၏။

“အဘိုးကြီးက ကျုပ်ကို စောင်းပြောနေတာဗျ” ဗိုလ်ချုပ် အာမိုလေ့ဗ်သည် မိမိဘေးတွင် ယှဉ်စီးလာသော ဗိုလ်ချုပ်ရှေ့စကီကို ဒူးဖြင့် လှမ်းတို့၍ ပြောလိုက် သည်။ ၊ ခဏကြာလျှင် ဗိုလ်ချုပ်အာမိုလေ့ဗ်သည် စစ် ၊ သေနာပတိချုပ်အနားသို့ စီးလာကာ။ . ။

“တိုက်မယ်ဆိုရင်တော့ သိပ်မနောက်ကျသေးပါ ဘူး။ ကိုယ်တော်ကြီး။ ရန်သူတွေ ဆုတ်မသွားသေးပါဘူး။ တိုက်ပွဲမတိုက်ရင်တော့ ကိုယ်ရံတော်တပ်တွေ လဲ မီးခိုး မြင်ဖူးတော့မှာ မဟုတ်ပါဘူး”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်က မည်သို့မျှမပြော ချေ။ သို့ရာတွင် မူး ရတ်၏ တပ်များဆုတ်ခွာသွားပြီဟု သတင်းပို့ကြသောအခါတွင် စစ်သေနာပတိ ချုပ် ကူတူ ဇော့ဗ်သည် တိုက်စစ်ပြုရန် အမိန့်ပေးလိုက်၏။ သို့တိုင် အောင် စစ်သေနာပတိချုပ် ခြေလှမ်းတစ်ရာရောက်တိုင်း  နာရီသုံးမောင်းခန့် နားလျက်ရှိ လေသည်။

စင်စစ်၌ ထိုတိုက်ပွဲတွင် မည်မည်ရရဆို၍ မြို့စား ဩလေ့ဗ်၏ ကော့ဆက် မြင်းတပ်များ ဝင်တိုက်ခဲ့သည့် တိုက်ပွဲတစ်ပွဲသာ ဖြစ်ပွားခဲ့သည်။ ကျန်တိုက်ပွဲများ ကား လူရာပေါင်းအချို့ဆုံးရှုံးခဲ့သောအကျိုးမဲ့ တိုက်ပွဲများသာ ဖြစ်လေသည်။

ထိုတိုက်ပွဲပြီးသည့်နောက်တွင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်မှာ စိန်ရင်သိုင်း ဘယက်တစ်သွယ် ချီးမြှင့်ခြင်း ခံရ၍ ဗိုလ်ချုပ်ဘင်နစ်ဆန်မှာ စိန်အချို့နှင့် ဆုတော်ငွေ တစ်ထောင် ချီးမြှင့်ခြင်းခံရသည်။ အခြားသူများမှာလည်း ၎င်းတို့၏ အဆင့်အတန်းနှင့်အညီ ထိုက်သင့်သော ဆုတံ ဆိပ်ရရှိကြလေသည်။ ထိုတိုက်ပွဲပြီးသည့်နောက် စစ်ဦးစီး ဌာနတွင်လည်း အပြောင်းအလဲများ ဖြစ်ပေါ်လာခဲ့သည်။

"ကျုပ်တို့အဖြစ်ကတော့ အဲဒါပဲကြည့်တော့ အရပ် ကတို့။ ဘယ်လောက်ကသောင်းကနင်းနိုင်သလဲ" ဟု တာရူတီနိုတိုက်ပွဲအပြီးတွင် ရုရှားဗိုလ်ချုပ်များနှင့် ရုရှတပ် များက ပြောလေ့ရှိကြ၏။ ထိုအဖြစ်ကိုကြည့်၍ ယနေ့ ကျွန်ုပ်တို့ နှောင်းလူများကလည်း ဤသို့ပင် ဆိုကြ၏။ ၎င်းတို့၏စိတ်၌ " ဤသို့ ဖရိုဖရဲ ကသောင်းကနင်း ဖြစ်ရ ခြင်းမှာ တစ်ယောက်က တလွဲတချော်တွေ လျှောက်လုပ်၍ ဖြစ်ရခြင်း ဖြစ်သည်။ ငါတို့သာ ကွပ်ကဲလိုက်ရလျှင် ဤ သို့ဖြစ်မည်မဟုတ်" ဟု ထင်မှတ်လျက် ရှိကြလေသည်။ သို့ရာတွင် ဤသို့ပြောဆိုသူများမှာ ကိုယ်ပြောသည့်စကား ကို ကိုယ့်ဘာသာနားမလည်သော "နလပိန်းတုံး"များ သို့မဟုတ် ကိုယ့်ကိုယ်ကို လိမ်နေသူများသာ ဖြစ်ကြပေ သည်။ တာရူတီနိုတိုက်ပွဲ၊ ဘိုရိုဒီနိုတိုက်ပွဲ၊ သြစတားလစ် တိုက်ပွဲ စသည့် စစ်ပွဲဟူသမျှသည် ထိုတိုက်ပွဲ များကို စီမံရေးဆွဲသူတို မျှော်လင့်သကဲ့သို့ ဖြစ်လာကြသည် မဟုတ် ချေ။ ၎င်းတို့မျှော်လင့်သကဲ့သို့ ဖြစ်လာသော တိုက်ပွဲဟု ၍ တစ်ပွဲမျှမရှိချေ။ ဤသည်မှာ အခြေခံတရားဖြစ်ပေ သည်။ . သို့ဖြစ်လျှင် စစ်ပွဲတစ်ပွဲ မည်သို့မည်ပုံ ဖြစ်သင့်သည် ဆိုသော စစ်ပွဲ၏ လမ်းကြောင်းကို မည်သူက ဆုံးဖြတ် ပြဋ္ဌာန်းခြင်း ပြုသနည်း။ . ရေတွက်ခြင်းငှာ မစွမ်းနိုင်သောဆန္ဒ လွတ်လပ် မှုရှိသည့် အင်အားစုများ (သေရေးရှင်ရေးကို ဆုံးဖြတ်ရာ ဖြစ်သော စစ်ပွဲတစ်ပွဲမှာလောက် လူသည် မည်သည့်အခါမျှ စိတ်ဆန္ဒလွတ်လပ်ခြင်းမရှိပါ) ကသာ စစ်ပွဲ၏ လမ်း ကြောင်းကို ဆုံးဖြတ်ပြဋ္ဌာန်းခြင်း ပြုလေသည်။ စစ်ပွဲ၏ လမ်းကြောင်းကို မည်သူမျှ ကြိုတင်သိမြင်နိုင်စွမ်း မရှိချေ။

စစ်ပွဲတစ်ပွဲ၏ လမ်းကြောင်းသည် တစ်စုံတစ်ခုသော အင် အားစု၏လားရာဘက်နှင့်အညီ (လူတစ်ဦး၏ညွှန်ကြား ချက်နှင့်အညီ) မည်သည့်အခါမျှ ထပ်တူထပ်မျှ ဖြစ်ပေါ် ခြင်း မရှိချေ။

တစ်စုံတစ်ခုသော အရာဝတ္ထုပေါ်သို့ လားရာဘက် ( အသီးသီးရှိသောအားများ တစ်ပြိုင်တည်း သက်ရောက်ပါ က ထိုအရာဝတ္ထုရွေ့လျားမှု၏ လားရာဘက်သည် ထိုအား တစ်ခုခု၏ လားရာဘက်နှင့် မည်သို့မျှ ကိုက်ညီခြင်းရှိ နိုင်လိမ့်မည်မဟုတ်ချေ။ ထိုအားများလားရာဘက် မဟုတ် သည့် ကြားလားရာဘက်သို့ ရွေ့လျားသွားမည်သာ ဖြစ်လေ သည်။ ဤသဘောကို ယန္တရားဗေဒ၌ အားများ၏ အနား ပြိုင်စတုဂံ၏ ထောင့်ဖြတ်မျဉ်းသဘောတရားဟု ခေါ်ဆို ကြလေသည်။

ရာဇဝင်ဆရာများ၊ အထူးသဖြင့် ပြင်သစ်ရာဇဝင် ဆရာများက ၎င်းတို့၏ စစ်ပွဲများနှင့် တိုက်ပွဲများသည် ကြိုတင်ရေးဆွဲထားသော စီမံကိန်းများနှင့်အညီ ဖြစ်ပေါ် လာကြသည်ဟု မိန့်ကြားလျှင် ထိုအဆိုအမိန့်များအားလုံး သည် သွက်သွက်လည်အောင် မှားသည်ဟု ကောက်ချက် ချရန်မှတစ်ပါး အခြားမရှိတော့ချေ။

တာရူတီနိုတိုက်ပွဲ၌ တပ်များကို စစ်အင်္ဂါစဉ်များနှင့် အညီ လှုပ်ရှား တိုက်ခိုက်စေရန်ဟူသော စီမံကိန်းရေးဆွဲ သူ ဗိုလ်ချုပ်တိုးလ်၏ ရည်ရွယ်ချက်သည် လည်းကောင်း၊ ပြင်သစ်ဗိုလ်ချုပ်မူရတ်ကို အရှင်ဖမ်းလိုဟန်တူသော မြို့ စားဩလော့ဗ်၏ ရည်ရွယ်ချက်သည် လည်းကောင်း၊ ရန်သူတပ်ဖွဲ့ အားလုံးကို အမြန်ဆုံးချေမှုန်းလိုဟန်တူသော ဗိုလ်ချုပ်ဘင်နစ်ဆန်နှင့် အခြားဗိုလ်ချုပ်များ၏ ရည်ရွယ် ချက်သည် လည်ကောင်း၊ မိမိ၏ သတ္တိဗျတ္တိကို ပြလိုဟန်ရှိ သော စစ်တိုက်ရန် လက်ယားနေသည့် တပ်ဗိုလ်၏ ရည် ရွယ်ချက်သည်လည်းကောင်း၊ လက်ရပစ္စည်းကို ပို၍ ရမိ လိုသော ကော့ဆက်မြင်းတပ်သွား၏ ရည်ရွယ်ချက်

သည် လည်းကောင်း ထိုရည်ရွယ်ချက်များအားလုံးသည် တစ်ခုမျှ အကောင်အထည်မပေါ်ခဲ့ကြချေ။ သို့ရာတွင် တိုက်ပွဲအပြီး၌ တကယ်ဖြစ်လာသော အဆုံးပိတ်ရလဒ်နှင့်တကွ (ပြင်သစ် တို့ကို ရုရှားနိုင်ငံမှ မောင်းထုတ်ရေးနှင့် ပြင်သစ်စစ်တပ် ကြီးကို ချေမှုန်းရေးဟူသော) ထိုခေတ်က ရုရှားလူမျိုးတို့ တောင့်တလျက်ရှိသော အရာသည် တာရူတီနို တိုက်ပွဲ တိုက်ရခြင်း၏ ရည်ရွယ်ချက် အမှန်ဖြစ်သည် ဆိုလျှင်မူ ကား (ထိုသို့တလွဲတချော် ကသောင်းကနင်း ဖြစ်မှုများ ကြောင့် ပင်လျှင်) တာရူတီနိုတိုက်ပွဲသည် တိုက်ပွဲစဉ်၏ ထိုအဆင့် ထိုကာလ၌ ၎င်းရသင့်သောအရာကို ရခဲ့ပေသည် ဟု ဆိုရမည် ဖြစ်လေသည်။ ထိုတိုက်ပွဲမှ တကယ်ထွက်လာသော ရလဒ်ထက်ပို၍ အကျိုးကျေးဇူးများသော ရလဒ် မျိုးကို မျှော်လင့်၍ ဖြစ်နိုင်ပါသေးသလား။ တာရူတီနို တိုက်ပွဲ၌ မည်မျှ ကသောင်းကနင်း တလွဲတချော်ဖြစ်သည် ဆိုစေ ရုရှားတို့အဖို့ ဆုတ်စစ်မှ တိုက်စစ်သို့ ကူးပြောင်းလာ နိုင်ခြင်း၊ ပြင်သစ်တို့၏ အားနည်းချည့်နဲ့ ဘွားဘွားကြီး ပေါ်လာခြင်း နပိုလီယန်၏ စစ်တပ်ကြီး ကသောကမြော ထွက်ပြေးရသည့်အဖြစ်သို့ရောက်အောင် ပထမဆုံးအကြိမ် အရှိက်ကို ထိုးလိုက်နိုင်ခြင်း စသည့် အရေးအကြီးဆုံး ရလဒ်များကို များစွာ အားစိုက်ရခြင်းမရှိ။ များစွာ အကျ အဆုံးမရှိဘဲ ရလိုက်သည်သာမဟုတ်ပါလော။

## အခန်း ၈

ထွန်းပြောင်သော မော်စကိုအောင်ပွဲကြီးကို ရရှိပြီးသည့် နောက်၌ နပိုလီယန်သည် မော်စကိုမြို့တွင်းသို့ ဝင်လာခဲ့ လေသည်။ မှန်ပါသည်။ စစ်တလင်းသည် ပြင်သစ်တို့ လက်တွင် ရောက်လျက်ရှိခြင်းကြောင့် မော်စကို တိုက်ပွဲ သည် နပိုလီယန်အဖို့ အောင်ပွဲကြီးဖြစ်ပါသည်။ ရုရှားများ သည် ဆုတ်ခွာခဲ့ကြကာ ၎င်းတို့၏ ရှေးဟောင်းမြို့တော် မော်စကိုကို စွန့်ခွာခဲ့ကြရ၏။ ယခုသော် ရိက္ခာများ၊ လက်

နက်ခဲယမ်းမီးကျောက်များ၊ အဖိုးမဖြတ်နိုင်သော ဥစ္စာ ပစ္စည်းများဖြင့် အလျှံပယ် ကြွယ်ဝသော မော်စကိုမြို့ကြီး နပိုလီယန်၏ လက်ခုပ်တွင်းသို့ ရောက်လျက်ရှိလေပြီ။ ပြင်သစ်စစ်တပ်၏တစ်ဝက်မျှသာ အင်အားရှိသော ရုရှား စစ်တပ်သည် တိုက်စစ်ပြုရန် အားထုတ်ခြင်းမရှိဘဲ တစ်လ ကြာမျှ ငြိမ်သက်လျက်ရှိလေသည်။ နပိုလီယန်၏ အခြေ အနေမှာ လုပ်တိုင်းတင့်တယ်သော အခြေအနေမျိုးဖြစ်၏။ - နှစ်ဆမျှသော အင်အားဖြင့် ရုရှားစစ်တပ်ကြီးကို ခုန်အုပ်ချေ မှုန်းလိုသလော။ မိမိအတွက် အကျိုးများသော ငြိမ်းချမ်းရေး မျိုးကို စေ့စပ်ဆွေးနွေးလိုသလော။ စေ့စပ်ဆွေးနွေးရေး ကမ်းလှမ်းချက်ကို ငြင်းပယ်ကာ ပီတာစဘက် ရွှေမြို့တော် ကို ခြိမ်းခြောက်ခြင်းပြုလိုသလော သို့မဟုတ် စမိုးလင့်၊ ဝီလနာမြို့များဘက်သို့ ပြန်လည်ဆုတ်ခွာလိုသေးသလော။ ထိုမှ မဟုတ်သေးလျှင် မော်စကိုတွင် ဆက်လက်နေလိုသေး သလော။ ကြိုက်ရာကို လုပ်နိုင်ပေသည်။ အချုပ်အားဖြင့်ကား ထိုအချိန်က ပြင်သစ်တို့ရရှိနေသော လုပ်တိုင်းတင့် တယ်သော အခြေအနေမျိုးကို ဆက်ထိန်းထားရန် မည် သည့် ဘုန်းကံပါရမီမျှ မလိုချေ။ ထိုသို့ လုပ်တိုင်းတင့်တယ် သောအခြေကို ထိန်းထားရန်မှာ ပြင်သစ်တပ်များအား လုယက်ဖောက်ထွင်းခွင့်မပြုရန် ဆောင်းရာသီ အဝတ် အထည်များ ကြိုတင်စုဆောင်းရန် စသည့်အလွန်ကွယ်ကူ သော အလုပ်များကို ဆောင်ရွက်ရုံမျှသာ ဖြစ်၏။ ဆောင်းရာသီအဝတ်အထည်များကို ကြိုတင်စုဆောင်းရေးမှာလည်း ခက်ခဲလှသည့် ကိစ္စမဟုတ်ချေ။ မော်စကိုမြို့တွင် စစ်တပ် ကြီး တစ်တပ်စာ အလုံအလောက်ရှိပြီးဖြစ်သည်။ ရိက္ခာ ဆိုသည်မှာလည်း (ပြင်သစ် ရာဇဝင်ဆရာများအဆိုအရ) စစ်တပ်ကြီးတစ်တပ်လုံးကို ခြောက်လစာ ထောက်ပံ့ရန် အလုံအလောက် ရှိပြီးဖြစ်သည်။ သို့သော်လည်း စစ်တပ်ကြီး ( တစ်တပ်လုံးကို ရုပ်သေးရုပ်ကလေးသဖွယ် ချုပ်ကိုင်နိုင် စွမ်းရှိသည်ဟု ရာဇဝင်ဆရာများက ဆိုကြသော ဘုန်းရှင်၊ ကံရှင်၊ ပါရမီရှင်

တကာတို့၏သခင် ရွှေနန်းရှင် နပိုလီယန် သည် ဤအရာများကို တစ်ခုမျှ မလုပ်ခဲ့ချေ။

နပိုလီယန်သည် ရွှေဉာဏ်တော်စူးရောက်ကာ ဤ အရာမျိုးကို တစ်ခုမျှ မလုပ်ခဲ့ရုံမျှမက ၎င်း၏ ရှေ့တွင် ပွင့်လျက်ရှိသော လမ်းများအနက် အမိုက်မဲဆုံး အန္တရာယ် အများဆုံးလမ်းကို ရွေးချယ်ခဲ့လေသည်။ မော်စကိုတွင် ဆောင်းခိုခြင်း၊ ပီတာစဘတ်ရွှေမြို့တော်၊ သို့မဟုတ် နစ်ဇနီမြို့ဘက်သို့ ချီတက်ခြင်း၊ မြောက်ဘက်စွန်း သို့ မဟုတ် တောင်ဘက်စွန်းလမ်းများ (ဥပမာ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်နောက်တွင် ချီတက်ရာလမ်း) အတိုင်း ဆုတ်ခွာခြင်း၊ စသည့် နည်းလမ်း အသွယ်သွယ်တို့အနက် ၎င်းရွေးချယ်ခဲ့သည့် နည်းလမ်းလောက် မိုက်တွင်းနက် လှသော နည်းလမ်းအန္တရာယ်များလှသော နည်းလမ်းဟူ၍ တစ်ခုမျှမရှိချေ။ နပိုလီယန်သည် မော်စကိုတွင် အောက်တို ဘာလအထိ နေထိုင်ခြင်းပြုကာ မိမိ၏ တပ်များအား မော်စကိုမြို့ကြီးကို စိတ်ရှိလက်ရှိ လုယက်ဖျက်ဆီးခွင့် ပြုခဲ့၏။ ထို့နောက် ဆုတ်ခွာအံ့လော၊ နားနေအံ့လောဟု တွေးတောမရ ကြံဒွိဟဖြင့် မော်စကိုကို စွန့်ခွာသွားခဲ့၏။ တိုက်ပွဲတိုက်ရန် ရည်ရွယ်ချက်မရှိဘဲ ကူတူဇော့ဗ်နောက်သို့ လိုက်သွားခဲ့၏။ လက်ယာဘက်သို့ချိုးကာ မာလိုယာရို စလားသို့ ဆုတ်သွား၏။ တစ်ဖန် ဖောက်ထွက်ရန် ကြိုး စားခြင်းမပြုဘဲ ကူတူဇော့ဗ်နောက်သို့ လိုက်ပြန်၏။ ထို့ နောက် စစ်တလင်းဖြစ်၍ ဖွတ်ဖွတ်ကြေနေသော စမိုးလင့် ပေတစ်ရာလမ်းမကြီးအတိုင်း ဆုတ်ခွာသွားခဲ့လေသည်။ တမင် အပတ်တကုတ် အားထုတ်၍ စဉ်းစားလျှင်ပင် ထို မျှလောက် မိုက်တွင်းနက်၍ ပြင်သစ်စစ်တပ်ကြီးအဖို့ ထိုမျှလောက် အန္တရာယ်များလှသောလမ်းကို ရှာတွေ့လိမ့် မည် မထင်ချေ။ အကယ်၍ နပိုလီယန်၏ ရည်ရွယ်ချက် သည် ၎င်း၏ ပြင်သစ်စစ်တပ်ကြီးကို ၎င်းဘာသာပြန် ၍ ဖျက်ဆီးချေမှုန်း ပစ်ရန် ဖြစ်သည်ဆိုလျှင်ကား ထို ရည်ရွယ်ချက်ကြီးအား (ရုရှား စစ်တပ်ကြီး၏ တိုက်ခိုက်မှု စသော ပြင်ပယောဂများ မပါဘဲ) ဤမျှ ပြည့်ပြည့်ဝဝ

အကောင်အထည်ပေါ်စေမည့် အလုပ်မျိုးကို ကမ္ဘာတွင် အကျွမ်းကျင်ဆုံးဆိုသော စစ်ပါ ဂူများသော်မှ ကြံစည်စိတ် ကူးရန် တတ်နိုင်ကြလိမ့်မည်မဟုတ်ချေ။

ဘုန်းရှင်၊ ကံရှင်၊ ပါရမီရှင် နပိုလီယန်ကား တတ်နိုင်လေစွ။ သို့ရာတွင် ဤသို့ ကား မဟုတ်တန်ရာပါ။ နပိုလီယန်သည် မိုက်မဲသောကြောင့် သို့မဟုတ် ၎င်း၏ ပျက်စီးစေလိုသော ဆန္ဒရှိခြင်းကြောင့် ၎င်း၏ စစ်တပ်ကြီးကို ပျက်စီးစေသည်ဟုဆို လျှင် နပိုလီယန်သည် ဘုန်းကံပါရမီ ထူးခြင်းကြောင့် အမြော်အမြင်ကြီးခြင်း ကြောင့် သို့မဟုတ် ၎င်းတွင် ဆန္ဒရှိခြင်းကြောင့် ၎င်း၏ စစ်တပ်ကြီးကို မော်စကိုမြို့ သို့ ချီတက်စေနိုင်ခဲ့ခြင်း ဖြစ်သည်ဟု ပြောဆို ခြင်းမျိုးကဲ့သို့ မတော်မတရား ပြောရာရောက်ပါလိမ့်မည်။

ဤနှစ်ချက်စလုံး (မော်စကိုမြို့သို့ ပြင်သစ်တို့ ရောက်ခြင်းနှင့် ပြင်သစ် စစ်တပ်ကြီး ပျက်ခြင်း)၌ သာမန် စစ်သားလေးတစ်ဦး၏ ကိုယ်ပိုင်ဆောင်ရွက်ချက် ထက် ထူး၍ အရေးပါခြင်း မရှိသည့် နပိုလီယန်၏ ကိုယ်ပိုင် ဆောင်ရွက်ချက် ဟူသမျှသည် ထိုအဖြစ်အပျက်ကြီးကို ချုပ်ကိုင်စိုးပိုင်လျက်ရှိသော နိယာမတရား များနှင့် မတော် တဆတိုက် ခိုက်သွားခြင်းကြောင့်သာ ဤသို့ ဖြစ်သွားရရှာ ခြင်း ဖြစ်ပါသည်။

နပိုလီယန်၏ စဉ်းစားတွေးခေါ်နိုင်စွမ်းတို့သည် မော်စကိုမြို့သို့ ရောက်သည့် အခါ၌ အားနည်းလျော့ပါးသွား ကြသည်ဟု ရာဇဝင်ဆရာများက အမှောက်မှောက် အမှား မှာ ဖော်ပြခဲ့ကြသည်။ ဤသို့ ပြောခြင်းမှာ နပိုလီယန်၏ ဆောင်ရွက်ချက် များက တခြား၊ ရလဒ်တခြား ဖြစ်လာ သောကြောင့် လီဆယ်ပြောကြခြင်းသာ ဖြစ် လေသည်။ စင်စစ်၌ကား နပိုလီယန်သည် (ယခင်အခါများကကဲ့သို့ လည်းကောင်း၊ နောင် ၁၈၁၃-နှစ်ကကဲ့သို့လည်းကောင်း) မိမိကိုယ်တိုင်နှင့်တကွ မိမိ၏စစ်တပ်ကြီး အတွက်အကောင်း ဆုံးဖြတ်ရန် ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ လုပ်ဆောင် ခဲ့

သည်သာ ဖြစ်လေသည်။ ထိုစဉ်က ၎င်း၏ ဆောင်ရွက် ချက်ဟူသမျှသည် အီဂျစ်၊ အီတလီ၊ ဩစတြီးယား၊ ပရပ်ရှားနိုင်ငံများတွင် ဆောင်ရွက်ခဲ့သည့်နည်းတူ ချီးကျူး အံ့ဩဖွယ်ကောင်းသည်သာ ဖြစ်လေသည်။ (၎င်း၏ ဘုန်း တန်ခိုးကြီးကျယ်မှုကို ရာစုနှစ်လေးဆယ်က ငုံ့ကြည့်ရာ အရပ်ဟု ဆိုရသော) အီဂျစ်ပြည်မှ၎င်း၏ အံ့ဖွယ် သူရဲ ဆောင်ရွက်ချက်များအကြောင်းကို ပြင်သစ်တို့အပြောဖြင့် သာ မှန်း၍ "လွမ်း"ရသောကြောင့် အီဂျစ်ပြည်၌ ဘုန်းကံ ပါရမီသည် မည်မျှအထိ ဒေါင်ဒေါင် မြည်အောင် စစ်မှန် ကြောင်းကို ကျွန်ုပ်တို့သေချာစွာ မသိရချေ။ အလားတူပင် ဩ စတြီးယားနှင့် ပရပ်ရှားနိုင်ငံများ၌ ၎င်း၏ ဘုန်းကံ ပါရမီ ကြီးကျယ်ခဲ့ကြောင်းကို လည်း ပြင်သစ်နှင့် ဂျာမန် ရာဇဝင်ကျမ်းများမှသာ သိရသဖြင့် ထိုသေဒသများ၌ ၎င်း၏ဘုန်းကံပါရမီ ကြီးကျယ်ခဲ့ခြင်းတွင် "မဆလာ" မည်မျှရောမရောကို ကျွန်ုပ် တို့ မခန့်မှန်းနိုင်ချေ။ စင်စစ် ၌ ဂျာမန်များမှာလည်း သေနတ်တစ်ချက်မျှ မဖောက် ရဘဲ မိမိတို့ တပ်အားလုံး လက်နက်ချခြင်း၊ ခံတပ်များကို အလွယ်တကူထိုးအပ် လိုက်ရခြင်းတို့ကြောင့် "အူကြောင် ကြောင်" ဖြစ်ကုန်ကြကာ ကိုယ့်အဖြစ်ကို သော်မှ နား မလည်နိုင်ကြတော့ဘဲ "နပိုလီယန်၏ ဘုန်းကံပါရမီကြောင့် သာ တကား" (ဘုရားစူးစေ့) ကိုယ်ရှက်ဖွယ်လိလိ ညှံ့ဖျင်း ကြောင်းကို ဖုံးကွယ်ချင်ရုံမျှ ဖြင့် နပိုလီယန်၏ ဘုန်းကံ ပါရမီဆိုသည်ကို အသိအမှတ် မပြုလိုပါ။ ကျွန်ုပ်တို့မှာ ပြဿနာကို ရှင်းရှင်းလင်းလင်း မကွယ်မထောက်ကြည့်ရန် အခွင့်အရေးကို တန် ရာတန်ဖိုး ပေးဝယ်ခဲ့ရပြီး ဖြစ်ရကား ထိုအခွင့်အရေးကို လက်လွှတ်လိမ့်မည် မဟုတ်ပါ။

နပိုလီယန်၏ မော်စကိုတွင် ဆောင်ရွက်ချက်များ သည် အခြားနိုင်ငံများမှာ ကဲ့သို့ ချီးကျူးအံ့ဩဖွယ်ကောင်း သည်သာ ဖြစ်ပါသည်။ "ပါရမီဉာဏ်" နှင့် ပြည့်စုံသည် သာဖြစ်ပါသည်။ မော်စကိုမြို့ထဲသို့ ဝင်လာသည့် အချိန်မှ စ၍ ထွက် သွားသည့် အချိန်အထိ နပိုလီယန်သည် အမိန့် တစ်ခုပြီးတစ်ခု စီမံကိန်း တစ်ဖုံပြီး

တစ်ဖုံ ထုတ်ပြန် ရေး ဆွဲခဲ့ပါသည်။ မြို့ကြီးဟောင်းလောင်း ဖြစ်နေခြင်း၊ မြို့ အပ်မည့် ကိုယ်စားလှယ်အဖွဲ့ ရောက်မလာခြင်း၊ မော်စကို မြို့ကြီးမီးလောင်ခြင်း စသည်တို့သည်ပင် ၎င်းကို စိတ် ပျက်အားငယ်ခြင်း မဖြစ်စေနိုင်ပါ။ နပိုလီယန်သည် မိမိ တပ်များ သက်သာချောင်ချိရေးနှင့် ရန်သူတို့၏အပြုအမူ များကိုလည်းကောင်း၊ ရုရှားပြည်သူတို့၏ သက်သာ ချောင်ချိရေးကိုလည်းကောင်း၊ ပါရီရွှေနန်းတွင်းကိစ္စများ စီမံခန့်ခွဲခြင်းကိုလည်းကောင်း၊ မျှော်လင့်ထားသော ငြိမ်း ချမ်းရေး ဆွေးနွေးပွဲစည်းကမ်းများနှင့် ပတ်သက်သည့် သံတမန်ဆိုင်ရာကိစ္စများကိုလည်းကောင်း တစ်ခုကိုမျှ မျက်ခြည်ပြတ် မေ့လျော့နေခြင်း မရှိပါ။

# အခန်း ၉

စစ်ရေးစစ်ရာများနှင့် ပတ်သက်၍ နပိုလီယန်သည် ၎င်း တတ်နိုင်သမျှ အစွမ်းကုန် လုပ်ခဲ့လေသည်။ မော်စကို မြို့ထဲသို့ဝင်ပြီး မကြာမီမှာပင် ရုရှားစစ်တပ်ကြီး၏ လှုပ်ရှားမှုကို စောင့်ကြည့်ရမည်ဟုလည်း ဗိုလ်ချုပ်ဆာဘတ် စတီယာနီကို တင်းကျပ်စွာ အမိန့်ပေးခဲ့သည်။ ပေတစ်ရာ လမ်းမကြီး အသီးသီးသို့ ၎င်း၏ တပ်ဖွဲ့များကို စေလွှတ် ခဲ့သည်။ ကူတူဇော့ဗ်အား လိုက်လံရှာဖွေရန်လည်း မူရတ် ကို စေလွှတ်ခြင်း ပြုခဲ့သည်။ ထို့နောက် ကရင်မလင် နန်းမြို့ရိုးခံတပ်များကို အခိုင်အမာ စီရင်ရန်လည်း ကိုယ် တိုင် ညွှန်ကြားချက်များ ပေးခဲ့သည်။ ရုရှားနိုင်ငံမြေပုံ ကြီးတစ်ချပ်လုံးကို ရှေ့တွင်ချလျက် လာလတ္တံ့သော တိုက်ပွဲစဉ်အတွက် ထွန်းပြောင်သည့် စီမံကိန်းကြီးတစ်ရပ် ကိုလည်း ရေးဆွဲခဲ့ပေသေးသည်။ သံတမန်ရေးရာများနှင့် ပတ်သက်၍လည်း နပိုလီ ယန်သည် အစွမ်းကုန် ကြိုးပမ်းခဲ့လေသည်။ နပိုလီယန် သည် ပြင်သစ်တို့ အလုခံရ၍ အဝတ်အစား အစုတ် စုတ် အပြတ်ပြတ်နှင့် မော်စကိုမြို့ထဲတွင် ထွက်ပေါက် မရှိ ပိတ်မိနေသော ရုရှားတပ်မတော်

အမှုထမ်းဗိုလ်ကြီး ယာကိုလက်ကို ရှေ့တော်သို့ ဆင့်ခေါ်ကာ ၎င်း၏ဝါဒနှင့် ၎င်း၏သဘောထားကြီးမှုကို အကျယ်တဝင့် ရှင်းပြခဲ့၏။

မော်စကိုမြို့ဝန် ရော့စတော့ချင်သည် မော်စကိုမြို့ ကိစ္စ အဝဝကို ညှံ့ဖျင်းစွာ ဆောင်ရွက်ခဲ့သည်ဟု မိမိ၏ "ညီတော်"နှင့် အကြည်တော်"အား အကြောင်းကြား ရန် တာဝန်ရှိကြောင်း ဖော်ပြပါရှိသော စာချွန်တစ်စောင်ကို အလက်ဇန်းဒရား ဧကရာဇ်ထံ ရေးသားကာ ဗိုလ်ကြီး ယာကိုလက်အား ပီတာစဘတ်ရွှေနန်းတော်သို့ သွားရောက် ပေးပို့စေခဲ့၏။

မိမိ၏ သဘောထားများနှင့် မိမိ၏ သဘောထား ကြီးမှုကို မိဘမဲ့ကလေး ဂေဟာမှူးဖြစ်သူ တူတိုလ်မင်းအား ရှင်းပြကာ ထိုအဘိုးကြီးအား ပီတာစဘတ်သို့ စေလွှတ် ၍လည်း စေ့စပ်ရေး ကမ်းလှမ်းခဲ့သေးသည်။

တရားဥပဒေရေးရာများနှင့် ပတ်သက်၍လည်း နပိုလီယန်သည် တတ်နိုင် သမျှ အားထုတ်ခဲ့သည်သာ ဖြစ် ပါသည်။ နပိုလီယန်သည် မော်စကိုမြို့ မီးလောင် ပြီးသည့် နောက် မီးရှို့သူများကို ဖမ်းဆီးပစ်သတ်ရမည်ဟု အမိန့် ထုတ်ပြန်ခဲ့သည်။ ၎င်း၏ စံအိမ်ကို မီးတင်ရှို့ရန် အမိန့် ထုတ်ခြင်းအားဖြင့် လူဆိုးလူသွမ်း မြို့ဝန် ရော့ စတော့ ချင်ကိုလည်း ပြစ်ဒဏ်ပေးခဲ့သေးသည်။

မြို့ပြအုပ်ချုပ်ရေးရာများနှင့် ပတ်သက်၍လည်း နပိုလီယန်သည် အစွမ်းရှိ သလောက် ဆောင်ရွက်ခဲ့သည် သာ ဖြစ်လေသည်။ နပိုလီယန်သည် မော်စကို ဖွဲ့စည်း ပုံဥပဒေအသစ်တစ်ရပ်ဖြင့် အုပ်ချုပ်စေခဲ့သည်။ မြူနီစီပယ် အဖွဲ့ တစ်ရပ် ကိုလည်း တည်ထောင်ပေးခဲ့သည်။ အောက်ပါ - ကြေညာချက်ကိုလည်း ထုတ်ပြန် ခဲ့လေသည်။ မော်စကိုမြို့သူမြို့သားအပေါင်းတို့ သင်တို့၏ကံကြမ္မာသည် ဆိုးရွား ရက်စက်လွန်း လှသည်။ သို့ရာတွင် ရွှေနန်းရှင် ဧကရာဇ်နှင့် ရှုရှားပြည် ဘုရင် ကျွန်ုပ်သည် ဤကံကြမ္မာဆိုး ကို ဟန့်တားဖယ်ရှားလိုသောဆန္ဒ ရှိတော်မူသည်။

ရွှေနန်းရှင် ကေရာဇ်သည် အာဏာဖီဆန်သူ၊ ရာဇဝတ်မှု ကျူးလွန်သူများကို ပြစ်ဒဏ်စီရင်ခြင်း ဖြင့် သင်တို့ မှတ်သားလောက်သော နမူနာများ ကို ပြသတော်မူခဲ့ပြီ။ ဥပဒေဖောက်ဖျက်မှုများကို အဆုံးသတ်၍ ရပ်ရွာငြိမ်ဝပ်ပိပြား လုံခြုံရေးကို ထူထောင်ရန်အလို့ငှာ တင်းကျပ်သော အစီအမံ များကိုလည်း ပြုလုပ်တော်မူခဲ့ပြီ။ သင်တို့ကိုယ် တိုင် ရွေးချယ်တင်မြှောက်သော အဖသဖွယ် ရှိ သည့် အုပ်ချုပ်ရေး အဖွဲ့ကို ဖွဲ့စည်း၍ မြူနီစီပယ် သို့မဟုတ် နေပြည်တော် အုပ်ချုပ်ရေးအဖွဲ့ တစ်ခု ကို ထူထောင်ကြရမည်။ ထိုအဖွဲ့ သည် သင်တို့ လုံခြုံရေး၊ သင်တို့ လိုလားချက်များ နှင့် သင်တို့ ၏ သက်သာချောင်ချိရေးကို ကြပ်မက်ဆောင်ရွက် သွားမည်။ ထိုအဖွဲ့ ဝင်များသည် ရင်သိုင်းစလွယ်နီ ကို ဝတ်ဆင်ကြရမည်။ မြို့တော်ဝန်မှာ ရင်သိုင်း စလွယ်နီအပြင် ခါးစည်းအဖြူကို ဝတ်ဆင်ရမည်။

တာဝန်မရှိသည့်အချိန်များ၌ ၎င်းတို့အားလုံး လက် ပတ်နီ ဝတ်ဆင်ကြရ မည်။

နေပြည်တော်ရဲအဖွဲ့ ကိုလည်း ယခင်ပုံစံအတိုင်း ပြန်လည်ဖွဲ့စည်းပြီး ဖြစ်သည်။ နေပြည်တော် ရဲ အဖွဲ့ ၏ ဆောင်ရွက်ချက်ကြောင့် ယခုအချိန်တွင် ရပ်ရွာငြိမ်ဝပ်ပိပြားရေး တိုးတက်ကောင်းမွန်လျက် ရှိသည်။ ကေရာဇ် ဘုရင့်အစိုးရ သည် ရဲဝန်ချုပ် နှစ်ဦးနှင့် ရဲဝန်နှစ်ဆယ်ကို နေပြည်တော် အရပ်ရပ် အုပ်ချုပ်ရန် အတွက် ခန့်အပ်ပြီး ဖြစ်သည်။ ၎င်းတို့ အားလုံး၏ လက်ဝဲလက်မောင်းတွင် ဝတ်ဆင် ထားသော လက်ပတ်ဖြူကို ကြည့်၍ ခွဲခြားသိကြ ရာသည်။ ဘာသာအယူ အသီးသီးမှ သုဓမ္မာဇရပ် များကိုလည်း ပြန်လည်ဖွင့်လှစ်ပေးကာ သာသနာ့ ကိစ္စ များကို အတားအဆီးမရှိ လွတ်လပ်စွာ ဆောင် ရွက်နိုင်ကြသည်။ သင်တို့ ရပ်ဆွေရပ်မျိုး မော်စကို မြို့သူမြို့သားတို့သည် နေအိမ်များသို့ နေ့စဉ်နှင့် အမျှ ပြန်လည်ရောက်ရှိလျက် ရှိကြသည်။ ၎င်း တို့ ပြန်ရောက်က လိုအပ်သော အကူအညီ အစောင့်အရှောက်တို့ကို ပေးရန် သက်ဆိုင်ရာ ဌာနများသို့ အမိန့်ထုတ်

ပြန်ပြီး ဖြစ်သည်။ ဤ သည်တို့ကား တရားဥပဒေ စိုးမိုးရေးကို ပြန်လည် ထူထောင်ရန်နှင့် သင်တို့၏ သက်သာချောင်ချိ ရေးအတွက် နိုင်ငံတော်အစိုးရ၏ ဆောင်ရွက် ချက်များ ဖြစ်သည်။ သို့ရာတွင် ဤရည်ရွယ်ချက် အောင်မြင်ရန်မှာ သင်တို့ကလည်း တစ်တပ် တအားအနေဖြင့် ပါဝင်ရန်လိုသည်။ သင်တို့၏ ကိုယ်ခန္ဓာကိုသော် လည်းကောင်း၊ သင်တို့၏ ဥစ္စာပစ္စည်းကို လည်းကောင်း ထိပါး သူတို့သည် တစ်နေ့တွင် အရှက်ကြီးစွာရကာ ပျက်စီးခြင်းနှင့် ကြုံတွေ့ရမည် ဖြစ်ကြောင်းကို ယုံကြည်စေလို သည်။ သင်တို့ခန္ဓာကိုယ်နှင့် ဥစ္စာပစ္စည်းတို့ကို ကာကွယ်ရေးသည် ဧကရာဇ်တကာတို့တွင် အကြီး မြတ်ဆုံး၊ တရားမျှတဆုံး အရှင်၏ အလိုဆန္ဒ ဖြစ်၍ ထိုအတိုင်း ကာကွယ်ပေးမည် ဖြစ်ကြောင်း ကို သံသယကင်းစွာ ရှိကြစေ။ စစ်သားများနှင့် ပြည်သူပြည်သားအပေါင်းတို့ အမျိုး ခွဲခြားခြင်း မရှိ။ ပြည်သူလူထု၏ ကိုးစားမှုကို ရယူကြစေ။ ပြည်သူလူထု၏ ကိုးစား ယုံကြည်မှုသည် နိုင်ငံစည် ပင်ဝပြောရေး၏ ရေသောက်မြစ်ဖြစ်သည်ဟု နားလည် ကြစေ။ ခေါင်းနင်းဆင်း ညီနောင်ရင်း ပမာ နေထိုင်ကြစေ။ တစ်ဦးကိုတစ်ဦး အပြန် အလှန် ရိုင်းပင်း၍ အတုံ့အလှယ် ကာကွယ်ကြ စေ။ အဖျက်သမားတို့၏ အကြံအစည်ကို တွန်း ' လှန်ရန် စည်းလုံးညီညွတ်ကြစေ။ စစ်ဘက်နှင့် မြို့ပြဘက် ဆိုင်ရာ အာဏာပိုင်များ၏ အမိန့်ကို နာခံကြစေ။ ထိုအခါ သင်တို့၏ မျက်ရည်တို့ စီးဆင်းခြင်းကို ရပ်တန့်ပေအံ့။ ။

သာသနာရေးနှင့် ပတ်သက်၍လည်း ဘုန်းတော် ကြီးများကို ပြန်လည် ပင့်ဆောင်ရန်၊ သုဓမ္မာဇရပ်များတွင် ပြုမြဲဝတ်တက်ဝတ်ရွတ်ကိစ္စများ ဆောင်ရွက် ရန် အမိန့် ထုတ်ပြန်ခဲ့လေသည်။ ။

ကူးသန်းရောင်းဝယ်ရေး၊ စစ်တပ်ကို ရိက္ခာဖြည့် တင်းရေးနှင့် ပတ်သက်၍လည်း နပိုလီယန်သည် အောက် ပါထုတ်ပြန်ကြေညာချက်ကို

အနှံ့အပြား ကပ်စေသည်။ ထုတ်ပြန်ကြေညာချက် အချင်းတို့၊ ငြိမ်းချမ်းသော မော်စကိုမြို့သူ မြို့သားအပေါင်းတို့၊ ကြမ္မာဆိုးကြောင့် နေပြည် တော်မှ ထွက်ပြေးကြကုန်သော လက်မှုပညာသည် များနှင့် အလုပ်သမားအပေါင်းတို့၏ အခြေအမြစ်မရှိ ကြောက်လန့်ခြင်းကြောင့် လယ်ကွင်းများမှ ထွက်ခွာသွားကြကုန်သော တောင်သူလယ်သမား အပေါင်းတို့။ နားထောင်ကြကုန်။ ယခုအချိန်၌ မော်စကိုမြို့တော်တွင် ငြိမ်ဝပ်ပိပြားလျက် ရှိပြီ။ တရားဥပဒေ စိုးမိုးရေးကို ထူထောင်ပြီးပြီ။ လေးစား စောင့်ရှောက်ခြင်း ခံရသည်ကို တွေ့မြင်ရသည့် အခါ၌ သင်တို့၏ ရပ်ဆွေမျိုးအပေါင်းတို့သည် ပုန်းအောင်းရာမှ ရဲဝံ့စွာ ထွက်လာကြပြီ။ ၎င်းတို့ ၏ ကိုယ်ခန္ဓာနှင့် ဥစ္စာပစ္စည်းတို့ကို ထိပါးနှောင့် ယှက်မှုတိုင်းအား ချက်ချင်း စစ်ဆေးအပြစ်ပေး လျက် ရှိသည်။ ရွှေနန်းရှင် ဧကရာဇ်နှင့် ဘုရင် မင်းမြတ်သည် ၎င်းတို့ကို ရင်ဝယ်သားကဲ့သို့ ကာကွယ်စောင့်ရှောက်ခြင်း ပြုတော်မူသည်။ အမိန့် အာဏာ ဖီဆန်ခြင်းပြုသူမှအပ ကျန်အားလုံးကို ကျောသားရင်သားမခွဲ ဆက်ဆံတော်မူသည်။ ဧကရာဇ်ဘုရင်မင်းမြတ်သည် သင်တို့၏ ကြမ္မာ ဆိုးကို အဆုံးသတ်၍ သင်တို့အား မိမိတို့ အိုး အိမ်များ၊ မိသားစုများထံ ပြန်လာစေလိုသောဆန္ဒ ရှိတော်မူသည်။ ထို့ကြောင့် ဧကရာဇ်ဘုရင်၏ ကရုဏာတော်ကို တုံ့ပြန်သောအားဖြင့် ဘုန်းတော် ရိပ်အောက်သို့ လာရောက်ခိုလှုံကြကုန်။ မြို့သူမြို့ သားအပေါင်းတို့ ယုံကြည်မှုအပြည့်ဖြင့် သင်တို့၏ အိုးအိမ်များသို့ ပြန်လာကြကုန်။ သင်တို့၏ လို လားချက်များ ပြည့်ဝသည်ကို မကြာမီ တွေ့မြင် ရအံ့။ လက်မှုပညာသည်များနှင့် အတတ်ပညာ ရှင်အပေါင်းတို့။ သင်တို့အလုပ်၊ သင်တို့အိမ်၊ သင်တို့ဆိုင်များသို့ ပြန်လာကြကုန်။ သင်တို့အိုး အိမ်များကို တပ်မတော်က စောင့်ရှောက်လျက် ရှိသည်။ သင်တို့၏အလုပ်နှင့် ထိုက်တန်သော ရိက္ခာလစာကို ရစေအံ့။ တောင်သူလယ်သမား အပေါင်းတို့။ သင်တို့ အထိတ်တလန့် ပုန်းအောင်း လျက်ရှိရာ တောအုံ ကန္တာရမှ ထွက်လာကြကုန်။ သင်တို့၏ လယ်တဲများသို့ စိုးရိမ်ခြင်း မရှိ

ပြန်လာကြကုန်။ သင်တို့အား ကာကွယ်စောင့် ရှောက်ပေးမည်ကို ယုံကြည်စိတ်ချကြကုန်။ နေ ပြည်တော်တွင် ဈေးများကို ဖွင့်လျက်ရှိပြီဖြစ် သည့်အလျောက် တောင်သူလယ်သမားတို့သည် မိမိတို့၏ ပိုလျှံသောရိက္ခာများနှင့် လယ်ယာထွက်ကုန်ပစ္စည်းများကို လာရောက်ရောင်းချနိုင်ကြ သည်။ လွတ်လပ်စွာ ရောင်းဝယ်နိုင်ရန်အလို့ငှာ နိုင်ငံတော်အစိုးရသည် အောက်ပါ အစီအမံများကို ဆောင်ရွက်ပြီးဖြစ်သည်။ (၁)ယနေ့မှစ၍ မော်စကို မြို့အနီးတွင် နေထိုင်ကြသော လယ်သမားများ၊ မွေးမြူသူများသည် သတ်မှတ်ထားသော ဈေးနှစ် ဈေးတွင် ၎င်းတို့၏ ထွက်ကုန်ပစ္စည်းများကို အန္တရာယ်ကင်းစွာ လာရောက်ရောင်းချနိုင်သည်။ သတ်မှတ်ထားသော ဈေးတစ်ခုမှာ မော်ဗာယာ လမ်းဖြစ်၍ အခြားတစ်ခုမှာ ဗဟိုကုန်ဈေး ရုံကြီးအတွင်း၌ ဖြစ်သည်။ (၂) ထိုထွက်ကုန်ပစ္စည်း များကို ရောင်းသူဝယ်သူနှစ်ဦးတို့ သဘောတူသော ဈေးနှုန်းအတိုင်း ဝယ်ယူမည်။ အကယ်၍ ရောင်း သူသည် သင့်တင့်သော ဈေးနှုန်းကို မရက ၎င်း ၏ပစ္စည်းများကို မိမိရွာသို့ ပြန်ယူသွားခွင့် ရှိ သည်။ မည်သူက မည်သည့်အကြောင်းကြောင့်မျှ ဟန့်တားခြင်း မရှိစေရ။ (၃) ရက်သတ္တပတ်တိုင်း တနင်္ဂနွေနေ့နှင့် ဗုဒ္ဓဟူးနေ့များကို ဈေးနေ့များ အဖြစ်သတ်မှတ်သည်။ ထိုသို့ လွတ်လပ်စွာ ရောင်းဝယ်ဖောက်ကားနိုင်ရန် အလို့ငှာ ဈေးလှည်း များကို အကာအကွယ်ပေးရန်အတွက် အင်္ဂါနေ့ နှင့် စနေနေ့များတွင် မြို့နှင့်အလှမ်းကွာသော ပေတစ်ရာလမ်းမကြီးပေါ်၌ စစ်တပ် အလုံ အလောက် တပ်စွဲပေးထားမည်။ (၄) ဈေးပြန်မြင်း များ၊ လှည်းများ စသည်တို့ အပြန်ခရီးတွင် အတားအဆီး အနှောင့်အယှက်မရှိစေရန် အလား တူ အစီအစမံများကို ပြုလုပ်ပေးမည်။ (၅) ပုံမှန် ကူးသန်းရောင်းဝယ်မှုကို ထူထောင်ရန်အတွက် လိုအပ်သည်များကို ချက်ချင်းဆောင်ရွက်မည်။ မြို့နှင့် တောနေပြည်သူလူထုအပေါင်းတို့၊ လက်မှုပညာသည်နှင့် အလုပ်သမားအပေါင်းတို့။ ဘုရင်  ဧကရာဇ်မင်းမြတ်၏ အဖ ရင်ဝယ်သားပမာ ထား ရှိသော စေတနာကို အကောင်အထည်ပေါ်အောင် ဆောင်ရွက်

ကြစေ။ အများပြည်သူ ကောင်းကျိုး အတွက် ပူးပေါင်းဆောင်ရွက်ကြစေ။ လေးစား ယုံကြည်စွာဖြင့် ရွှေဘွားတော်အောက်သို့ ဝင် ရောက်ကြကုန်။ လက်တွဲ ဆောင်ရွက်ရန်အတွက် နှောင့်နှေးခြင်း မဖြစ်ကြကုန်။

စစ်တပ်များနှင့် အရပ်သားများ၏ စိတ်ဓာတ်ကို မြှင့်တင်ရန် ရည်ရွယ်ချက်ဖြင့် နပိုလီယန်သည် စစ်ရေးပြ သဘင်များ အမြဲတမ်း ခင်းကျင်းကာ ဆုတော်လာဘ်တော်။ အစီးအနင်း၊ အဆောင်အယောင်တို့ကို ချီးမြှင့်ခြင်း ပြု၏။ မြို့သူမြို့သားတို့ အားပေးနှစ်သိမ့်စေရန်အတွက် မြင်းစီး ၍ တိုင်းခန်းလှည့်လည်ခြင်း ပြု၏။ နိုင်ငံကိစ္စအဝဝကြောင့် အလုပ်များလျက် ရှိသည့်ကြားမှ ၎င်းအမိန့်အရ ဖွင့်လှစ်တည်ထောင်သော ဇာတ်သဘင်များသို့ သွားရောက် ကြည့်ရှုခြင်းလည်း ပြု၏။

စေတနာ့ဝန်ထမ်း အကျိုးဆောင်လုပ်ငန်းများနှင့် ပတ်သက်၍လည်း သရဖူဆောင်းသော ခေါင်းများအနက် အကြီးမြတ်ဆုံးသော ပါရမီရှင်ကြီးဖြစ်သူ နပိုလီယန်သည် အစွမ်းကုန် ဆောင်ရွက်ခဲ့သည်သာ ဖြစ်လေသည်။ စေတနာ့ဝန်ထမ်း အဆောက်အအုံများပေါ်၌ "မယ်တော်ဘုရား ကောင်းမှု´ဟူသော ကမ္ပည်းစာတန်းများကို ရေးထွင်းစေ ၏။ ဤသို့ဖြင့် ဧကရာဇ်ဘုရင်တစ်ဆူ၏ ကြီးမြတ်သော စေတနာနှင့် မိဘကျေးဇူးသိတတ်သောသဘောကို ပေါင်း စပ်ပေးခဲ့၏။ ထိုမျှမက နပိုလီယန်သည် မိဘမဲ့ကလေး ဂေဟာသို့ သွားရောက်လည်ပတ်ကာ မိမိကယ်တင်ခဲ့သော မိဘမဲ့ကလေးငယ်များအား ၎င်း၏ ဖြူဖွေးသောလက်ကို နမ်းရှုပ်ခွင့်ပေးသနားတော်မူခဲ့၏။ ဂေဟာမှူးကြီး တူတိုလ် မင်နှင့် ကြင်နာစွာ စကားဆို၏။ ထို့နောက် ၎င်း၏ (လူမျိုး အသီးသီး ပါဝင်သော) စစ်သားများကိုလည်း မိမိပြုလုပ် ပြင်ဆင်ခဲ့သော ရှရှားငွေစက္ကူတုများဖြင့် ရိက္ခာလစာ ပေးဝေ၏။ ဤသည်နှင့် ပတ်သက်၍ မိမိကိုယ်တော်တိုင်၏ ဂုဏ်သိက္ခာနှင့် လည်းကောင်း၊ ပြင်သစ်စစ်တပ်ကြီး၏ ဂုဏ်သိက္ခာနှင့် လည်းကောင်း၊ ထိုက်တန်သော အပြုအမူ

ကို ပြသောအားဖြင့် ဘုန်းတော်ကြီးသောဘုရားသည် ဤနည်း လမ်းများကို အသုံးပြုကာ မီးလောင်ကျွမ်းပျက်စီးသူတို့၏ သက်သာချောင်ချိမှုကို ဖြစ်စေတော်မူ၏။ သို့ရာတွင် အများအားဖြင့် ရန်သူအားပေးဖြစ်ကြသော တိုင်းတစ်ပါး သားနိုင်ငံခြားသားတို့ကို ရိက္ခာတော် ချီးမြှင့်ပေးသနား တော်မူရန်ကိစ္စမှာ လွန်စွာ တန်ဖိုးကြီးလွန်းလှသည်အတွက် ဘုန်းတော်ကြီးသော ဘုရားသည် တပ်မတော် အပြင်မှ စားနပ်ရိက္ခာများ ဝယ်ယူရန်အလို့ငှာ ၎င်းတို့ကို ပိုက်ဆံ ကြေးငွေ ထောက်ပံ့ရန် သင့်အံ့ကြံရွယ်လျက် ၎င်းတို့ကို ရှရှားငွေစက္ကူများ ပေးသနားတော်မူ၏'ဟူ၍ ပြင်သစ် ရာဇဝင်ဆရာ သိုင်းပြော့စ်က ပြောင်မြောက်စွာ မှတ်တမ်း တင်ခဲ့လေသည်။

စစ်တပ်စည်းကမ်းများနှင့် ပတ်သက်၍လည်း စစ်ရေးတာဝန်ဝတ္တရားများ ထမ်းဆောင်ရန် ပျက်ကွက် ခြင်း၊ လုယက်ခြင်းတို့ကို ပြင်းထန်စွာ နှိပ်ကွပ်ရန်နပိုလီယန် သည် အမြဲတစေ အမိန့်များ ထုတ်ပြန်ခဲ့သည်သာ ဖြစ် လေသည်။

# အခန်း ၁၀

သို့ရာတွင် အလားတူ အခြေအနေမျိုးများတွင် ထုတ်ပြန် ခဲ့သည့် အခြားသော အမိန့်များထက် ထူး၍ ညံ့ဖျင်းခြင်း၊ မရှိသော အဆိုပါ ဆောင်ရွက်ချက်များ၊ အားထုတ်မှုများ စီမံကိန်းများအားလုံးသည် ဘာမျှ အရာရောက်ခြင်း မရှိ ဘဲ အနာတခြား ဆေးတခြားဖြစ်လျက် ရှိရုံမျှမက ဖွဲ့စည်း မှုမှ ပြုတ်ထွက်လာသော နာရီလက်တံတစ်ခုကဲ့သို့ ခွေး သွားစိပ်များနှင့် အံကျခြင်း မရှိတော့ဘဲ ရည်ရွယ်ချက်ကင်းမဲ့စွာ ထိုမှဤမှ လှုပ်ယမ်းလျက် ရှိကြလေသည် ဆန်းကျယ်လေစွ။

စစ်ရေးစစ်ရာနှင့် စပ်လျဉ်း၍ ဆိုလျှင်လည်း ၎င်း၏ တိုက်ပွဲစဉ် စီမံကိန်းသည် တကယ့်အခြေအနေ နှင့် မဟပ်မိခြင်းကြောင့် လက်တွေ့အကောင်အထည် မပေါ်ခဲ့ချေ။ ပေါ်လည်း မပေါ်နိုင်ချေ။ (ထိုစီမံကိန်းမှာ နပိုလီယန်၏ ဉာဏ်ပါရမီကို ဖော်ပြရာဖြစ်သည်ဟု အများက ဖော်ပြခဲ့ကြသည်။ ၎င်းနှင့် စပ်လျဉ်း၍ ‘နပိုလီယန်၏ ပါရမီဉာဏ်သည် ထို့ထက် လေးနက်သော ထို့ထက် ကျွမ်းကျင်လိမ္မာသော၊ ထို့ထက် ချီးကျူးဖွယ် ကောင်းသော စီမံကိန်းမျိုးကို တစ်ခါဖူးမျှ ရေးဆွဲနိုင်ခဲ့ခြင်း မရှိ” ဟု ၎င်း၏ ရာဇဝင်ဆရာသိုင်းယှစ်က ရေးသားခဲ့ သည်။ ဤပါရမီ ဉာဏ်မြောက်စီမံကိန်းဟူသည်မှာ အောက် တိုဘာလ ၄ ရက်နေ့တွင် ရေးဆွဲသော စီမံကိန်းကို ဆိုလိုခြင်း မဟုတ်ဘဲ အောက်တိုဘာလ ၁၅ ရက်နေ့တွင် ရေးဆွဲသော စီမံကိန်းကို ဆိုလိုကြောင်းဖြင့် အခြားရာဇဝင် ပညာရှိတစ်ဦးဖြစ်သော အမ်ဖိန်းနှင့် အငြင်းပွားခဲ့ကြသေး သည်။) ဘာဆီသုဓမ္မာဇရပ်ကြီးကို ဖြိုချကာ ဆောက်လုပ် ခဲ့သော ကရင်မလင် နန်းမြို့ရိုးကို မြေမြှုပ်ဗုံးဖြင့် ဖြိုချ ဖောက်ခွဲခဲ့ခြင်းသည်လည်း မိမိ မော်စကိုမှ ထွက်ခွာသွား သောအခါ၌ နန်းမြို့ရိုးကို ဖောက်ခွဲပစ်ခဲ့လိုသော နပိုလီ ယန်၏ ဆန္ဒအကောင်အထည်ပေါ်ရုံမှအပ အခြား ဘာမျှ အကျိုးထူးသည်

မဟုတ်ချေ။ (ဤလုပ်ပုံမျိုးကား ကိုယ့် ဘာသာကိုယ် ကြမ်းပြင်ပေါ်လဲကျပြီး ကြမ်းပြင်ကို တုတ် ဖြင့် ရိုက် ဆုံးမစေလိုသော ကလေးတစ်ယောက်၏ လုပ်ပုံ မျိုးနှင့် တူလှပါသည်။) နပိုလီယန် အထူးအာရုံထားသော ရုရှား စစ်တပ်ကြီးကို လိုက်လံတိုက်ခိုက်သည့်ကိစ္စသည် လည်း မကြားဖူးသော ရလဒ်များကို ပေါ်ထွက်စေခဲ့လေ သည်။ ပြင်သစ်ဗိုလ်ချုပ်များသည် စစ်သည်ခြောက်သောင်း ရှိသော ရုရှားစစ်တပ်ကြီးကို မျက်ခြည်ပြတ်သွားခဲ့ကြလေ သည်။ (သိုင်းမာ့စ်၏ အဆိုအမိန့်အရ ပြင်သစ်ဗိုလ်ချုပ် မူးရတ်၏ ကျွမ်းကျင်မှု၊ အထူးသဖြင့် ပါရမီဉာဏ်ကြီး ကျယ်မှုကြောင့် ကောက်ရိုးပုံထဲမှ အပ်တစ်ချောင်းကို ရှာတွေ့ခဲ့ သည့်နည်းတူ နောက်ဆုံးတွင် ထိုစစ်တပ်ကြီး ကို ရှာတွေ့ခဲ့ရသည်ဟု ဆိုပါသည်။) သံတမန်ရေးရာနှင့် စပ်လျဉ်း၍လည်း မိဘမဲ့ဂေဟာ မှူး တူတိုလ်မင်နှင့် (နပိုလီယန်၏ကိစ္စကို ဆောင်ရွက်ရေး ထက် ဆောင်းဝတ် ဝတ်ရုံရှည်ကြီးတစ်ထည် ရရေးနှင့် ပီတာစဘတ်သို့ သွားရန် ယာဉ်တစ်စင်းရရေးကို အဓိက ထားသော) ဗိုလ်ကြီးယာကိုလက်တို့ကို ရှင်းပြခဲ့သည့် နပိုလီယန်၏ သဘောထားကြီးမှုနှင့် တရားမျှတမှုတို့သည် အချည်းနှီး ဖြစ်ခဲ့ရလေသည်။ ရုရှားဘုရင် အလက် ဇန်ဒရားသည် ထို သံတမန်နှစ်ဦးကို လက်ခံတွေ့ဆုံခြင်း လည်း မပြု၊ ၎င်းတို့ ယူဆောင်လာခဲ့သော ကမ်းလှမ်း ချက်ကို ပြန်ကြားခြင်းလည်း မပြုခဲ့ချေ။

တရားဥပဒေရေးနှင့် စပ်လျဉ်း၍ ဆိုရလျှင်လည်း မီးရှို့မှု မသင်္ကာထင်ရသူများကို ပစ်သတ်ပြီးသည့်နောက်  မှာပင် မော်စကိုမြို့၏ ကျန်ရပ်ကွက်များ အားလုံးသည် မီးလောင်ပြာကျခဲ့ကြရလေသည်။

မြို့ပြအုပ်ချုပ်ရေးရာများနှင့် စပ်လျဉ်း၍လည်း မြူနီစီပယ်အဖွဲ့ တစ်ဖွဲ့ တည်ဆောက်ခြင်းသည် လုယက် မှုများကို တားဆီးနိုင်ခြင်း မရှိခဲ့ချေ။ ထိုမျှမက နပိုလီ ယန်၏ မြူနီစီပယ်အဖွဲ့သည် (တရားဥပဒေ စိုးမိုးရေးဟူ သော အကြောင်းပြချက်ဖြင့်) မော်စကိုမြို့ကြီးကို လုယက် ခဲ့သော သို့မဟုတ် မိမိတို့၏

ကိုယ်ပိုင်ပစ္စည်းကို အလုမခံ ရအောင် သို ဝှက်ခဲ့ကြသော မြူနီစီပယ်အဖွဲ့ဝင် လူကြီးအချို့ အတွက်သာ အသုံးဝင်ခဲ့လေသည်။

သာသနာရေးကိစ္စများနှင့် စပ်လျဉ်း၍လည်း နပိုလီ ယန်သည် အီဂျစ်ပြည် တွင် ဗလီတစ်ခုသို့ ဝတ်တက်ပြ လိုက်ရုံမျှဖြင့် ပြဿနာတို့ကို အလွယ်တကူ ဖြေ ရှင်းနိုင် ခဲ့သော်လည်း ယခုကား မည်သည့်အကျိုးတရားကိုမျှ မရခဲ့ချေ။ မော်စကို တွင် ကျန်ရစ်ခဲ့သော ကျောင်းထိုင်ဆရာ တော်သုံးလေးပါးတို့သည် နပိုလီယန်၏ ဆန္ဒအတိုင်း လုပ်ဆောင်ရန် ကြိုးစားခြင်း မပြုခဲ့ကြချေ။ ထိုမျှမက ၎င်းတို့အနက် တစ်ပါးကို သီလ ပေးနေစဉ် ပြင်သစ်စစ်သား တို့က ပါးရိုက်သွားခဲ့ကြသည်။ အခြားဆတော်တစ်ပါး နှင့် ပတ်သက်၍လည်း ပြင်သစ်တပ်ဗိုလ်တစ်ဦးက အောက် ပါအတိုင်း အစီရင်ခံခဲ့သည်။ ဆတော်တစ်ပါးအား သုဓမ္မ ဇရပ်တွင် သီလပေးရန် ပင့်ဖိတ်ရာက ၎င်း သုဓမ္မာဇရပ် ကို သုတ်သင်လှည်းကျင်း၍ ပိတ်ထားပါသည်။ ထို နေ့ ညဉ့် သုဓမ္မာဇရပ်တံခါးများကို အမည်မသိသူတို့ ချိုးဖျက် ၍ သော့ခလောက် များကို ဖျက်ဆီးသွားကြပါသည်။ ကျမ်းစာအုပ်များကိုလည်း ဆုတ်ပြဲသွားကြ ပါသည်။ သုဓမ္မာ ဇရပ်တစ်ခုလုံးကို ပြောင်းဆန်အောင် မွှေနှောက်သွားကြ ပါသည်။"

ကူးသန်းရောင်းဝယ်ရေးနှင့် စပ်လျဉ်း၍လည်း လုံ့လဝီရိယ ထက်သန်သော အလုပ်သမားများနှင့် လယ် `သမားများသို့ ထုတ်ပြန်သော ကြေညာချက် များသည် မည်သည့် တုံ့ပြန်မှုကိုမျှ မရခဲ့ချေ။ အလုပ်သမားဟူ၍ လည်း မရှိချေ။ မြို့ပြင်သို့ ထွက်၍ ကြေညာချက်ဝေသော တပ်ထောက်များကို လယ်သမားများက ဖမ်းဆီးသတ်ဖြတ် ခဲ့ကြလေသည်။

ပြည်သူလူထုနှင့် စစ်တပ်များ၏ ပျော်ရွှင်ရေး  အတွက် ဖွင့်လှစ်သော ဇာတ်ရုံများမှာလည်း ကျီးနှင့် ဖုတ်ဖုတ်ဖြစ်လျက် ရှိလေသည်။ ဇာတ်မင်းသား

မင်းသမီး များ မကြာခဏ အလုခံရသောကြောင့် ကရင်မလင် နန်းတွင်းနှင့် ပိုစ ညာကော့ဗ်ဇာတ်ရုံများတွင် ကပြသော ဇာတ်ပွဲများကို ပိတ်လိုက်ရလေသည်။ . ။

စေတနာ့ဝန်ထမ်း အကျိုးဆောင်လုပ်ငန်းများသည် ပင်လျှင် လိုသောရလဒ် ကို မပေးနိုင်ခဲ့ကြချေ။ ငွေစက္ကူ အစစ်များနှင့် မော်စကိုတစ်မြို့လုံးတွင် ဖွေးဖွေးလှုပ်နေ သော ငွေစက္ကူတုများသည် တန်ဖိုးမရှိကြတော့ချေ။ လက်ရပစ္စည်းများကို စုဆောင်းလျက်ရှိသော ပြင်သစ် စစ်သားများသည် ရွှေကို သာ ခုံမင်မက်မောကြသည်။ ဆင်းရဲဒုက္ခရောက်သူတို့အား မဟာသနားကရုဏာ ကြီးစွာ ဖြင့် နပိုလီယန်ဝေငှသော ငွေစက္ကူတုများသည် တန်ဖိုးမဲ့ လျက် ရှိရုံမျှမက ငွေသားများပင်လျှင် တန်ဖိုးနှင့်ညီသော ရွှေလောက် တန်ဖိုးမရှိကြတော့ချေ။

သို့ရာတွင် အဆိုးဆုံးကား လုယက်မှုများကို ရပ်တန့်ရန်နှင့် စစ်စည်းကမ်းကို လိုက်နာရန် ထုတ်ပြန်သော နပိုလီယန်၏အမိန့်များ အရာမထင် ဖြစ်ရခြင်းပေ တည်း။ ၎င်းတို့ကား ထိုအချိန်က အာဏာပိုင်များ၏ အမိန့်များ အရာမထင်ဖြစ် ရာ၌ အံ့သြစရာကောင်းသော စံနမူနာများ ပင် ဖြစ်လေသည်။

အောက်ပါတို့မှာ စစ်တပ်အာဏာပိုင်များ ၏ အစီရင်ခံချက်များ ဖြစ်လေ သည်။

အမိန့်များ ထုတ်ပြန်ထားသော်လည်း မြို့ ထဲတွင် လုယက်ဖောက်ထွင်းမှု များ ဖြစ်ပွားလျက် ရှိသည်။ ငြိမ်ဝပ်ပိပြားရေး ပျက်ပြားဆဲ။ မည်သည့် ကုန်သည်မျှ တရားဥပဒေနှင့် အညီ ရောင်းဝယ် ဖောက်ကားကြောင်း မပြုကြ။ မှောင်ခိုများ သာလျှင် ရောင်းဝယ်ရဲကြသည်။ ၎င်းတို့ရောင်းသော ပစ္စည်း များမှာ ခိုးရာပါပစ္စည်းများသာ ဖြစ်သည်။

ကျွန်ုပ်၏ ရပ်ကွက်အနီးသို့ အမှတ် ၃ တပ်ဖွဲ့မှ တပ်သားများ ဝင်ရောက် လုယက်ကြ သည်။ ၎င်းတို့မှာ ရှိစုမဲ့စုကလေးများဖြင့် မြေတိုက် များတွင် ပုန်းခိုနေ

ကြသော အရပ်သူ အရပ်သား များကို လုယက်ခြင်း ပြုရုံမျှမက ခေးရှည်များဖြင့် ရက်စက်စွာ ရိုက်နှက်ခြင်း ပြုကြသည်။ ဤအဖြစ် မျိုး မကြာခဏ တွေ့ရသည်။

စစ်သားများ ဆက်လက်လုယူခြင်း ပြုနေ ကြဆဲ။ အခြားဘာမျှ မထူးခြား။ အောက်တိုဘာလ ၉-ရက်။ ။

လုယက်လျက်ရှိကြဆဲ။ ဤရပ်ကွက်တွင် သူခိုး ဂိုဏ်းကြီးများ သောင်းကျန်းလျက် ရှိသည်။ အင်အား ကြီးသော စစ်တပ်ဖြင့် နှိမ်မှ ရနိုင်မည်။

အောက်တိုဘာလ ၁၁ ရက်။ ။ အမိန့်များ ထုတ်ပြန်ထားသည့်တိုင် တဖွဲဖွဲ့ လုယက်သောင်းကျန်းလာကြပြန်သော ကိုယ်ရံ တော်တပ်များကို မြင်သဖြင့် ဘုရင်မင်းမြတ် စိတ်နှလုံးမကြည် ရှိတော်မူသည်။ ကိုယ်ရံတော် တပ်များ လုယက်သောင်းကျန်းပုံမှာ မနေ့ညနေ နှင့် ညဦးပိုင်းကထက် ဆိုးလာသည်။ ကိုယ်ရံတော် တပ်များမှာ ဘုရင်ကေရာဇ်၏ အသက်ကို ကာ ကွယ်ရန် လက်ရွေးစင် ခန့်အပ်ထားသူများ ဖြစ် သည့် အလျောက် စည်းကမ်းသေသပ်မှုတွင် စံပြ များ ဖြစ်သင့်သည်။ သို့ရာတွင် ၎င်းတို့ အာဏာ ဖီဆန်ကာ တပ်မတော် ရိက္ခာသိုလှောင်ရာ ကုန်ရုံ များနှင့် မြေတိုက်များကို ဖောက်ထွင်းကြသည်။ ဤသည်ကို ဘုရင်မင်းမြတ် မြင်၍ စိတ်နှလုံး မကြည်။ အချို့ကား ကိုယ်ရံတော်တပ်သားဂုဏ် သိက္ခာကို မထိန်းနိုင်ကြတော့ဘဲ တာဝန်ကျ အစောင့်များ၊ တပ်ဗိုလ်များကို ဆဲရေးရိုက်နှက်ကြသည်။

နပိုလီယန်ခန့်သော မော်စကိုမြို့ဝန်ကလည်း အောက်ပါအတိုင်း အစီရင်ခံခြင်း ပြု၏။

အမိန့်များ ထပ်ပြန်တလဲလဲ ထုတ်ထားသော် လည်း စစ်သားများသည် နန်းရင်ပြင်တွင် လည်း ကောင်း၊ ဘုရင်မင်းမြတ်စံရာ နန်းပြတင်းဝအောက် တွင်

လည်းကောင်း မဖွယ်မရာ ပြုမူကြသဖြင့် နန်းတော်ဝင်းမှူးကြီး စိတ်ဓာတ်ကျကာ ညည်းညူ လျက် ရှိသည်။

ဤသို့ဖြင့် မိမိအား ငတ်မွတ်သေကြေခြင်းဘေးမှ ကယ်တင်မည့် စိုက်ခင်း တစ်ခင်းကို နင်းချေ၊ ဖျက်ဆီးလျက် ရှိသော နွားရိုင်းတစ်အုပ်ကဲ့သို့ ထိုပြင်သစ် စစ်တပ်ကြီးသည် လည်း မော်စကိုတွင် နောက်ထပ် တစ်ရက်နေသည်နှင့်အမျှ ဖရိုဖရဲဖြစ်ကာ ပြိုကွဲ ပျက်စီးလျက် ရှိလေပြီ။ သို့ရာတွင် ထိုစစ်တပ်ကြီးသည် ထွက်ခွာသွားခြင်း မပြုသေးချေ။

တာရူတီနို တိုက်ပွဲဖြစ်ပွားခြင်း၊ စမိုးလင့် ပေတစ် ရာလမ်းမကြီးပေါ်၌ ထောက်ပို့ဝန်တင်လှည်းများကို ရုရှား တို့က ဖမ်းဆီးလိုက်ခြင်းကြောင့် ရုတ်တရက် ကယောင် ကတမ်း ဖြစ်လာသောအခါကျမှ ပြင်သစ်စစ်တပ်ကြီးသည် စတင်ထွက်ပြေးခြင်း ပြုလေသည်။ နပိုလီယန်သည် ညီလာခံသဘင်တစ်ခုတွင် တာရူတီနိုတိုက်ပွဲသတင်းကို ရုတ်တရက် ကြားလိုက်ရသည်၌ (သိုင်းလေ့စ်၏ အဆိုအရ) ရုရှားတို့ကို ပြင်ထန်စွာ အပြစ်ပေးလိုသောဆန္ဒ ဖြစ်ပေါ် လာ သည့်အတွက် ၎င်း၏ စစ်တပ်ကြီးတစ်တပ်လုံးက တောင်းဆိုသော ဆုတ်ခွာရေး အမိန့်ကို ထုတ်ပြန်ခြင်း ပြုလိုက်တော်မူလေသည်။

မော်စကိုမှ ထွက်ပြေးသောအခါ၌ ပြင်သစ်စစ်သား များသည် ၎င်းတို့ ခိုး ယူထားသော ပစ္စည်းမှန်သမျှကို သယ်ဆောင်သွားခဲ့ကြ၏။ နပိုလီယန်ကိုယ်တိုင် လည်း ၎င်း၏ကိုယ်ပိုင် “ဘဏ္ဍာတော်”တို့ကို ယူဆောင်လာခဲ့လေ သည်။ သို့ရာတွင် စစ်တပ်ကြီး ချီတက်မှုကို ပိတ်ဆို့လျက် ရှိသည့် ဝန်တင်လှည်းများကို မြင်သောအခါ၌ နပိုလီယန် သည် (သိုင်းလေ့စ်၏ အဆိုအရ ပြင်းထန်စွာ ထိတ်လန့် တုန်လှုပ်ခြင်း ဖြစ်တော်မူသည်ဆို၏။ သို့ရာတွင် စစ်ပွဲ အတွေ့အကြုံရှိ သူပီပီ မော်စကိုမြို့သို့ အဝင်တွင် မီးရှို့ စေခဲ့ဖူးသကဲ့သို့ ယခု အပိုဝန်တင်လှည်း

များကိုကား မီး ရှို့ထားခဲ့ရန် အမိန့်ပေးခြင်း မပြုတော့ချေ။ နပိုလီယန်သည် စစ်သားများ စီးနင်းလိုက်ပါလာသော ကရထားကြီးများ၊ နှစ်ထပ်ပေါင်းမိုးရထား ကြီးများကို ကြည့်ကာ ရိက္ခာ၊ လူနာနှင့် ဒဏ်ရာရ စစ်သားများကို တင်ရန် အသုံးပြု နိုင်သည့်အတွက် "အလွန်ကောင်းသည်´ဟု မှတ်ချက်ချ ခြင်းပြုသော ဟူသတတ်။

ပြင်သစ်စစ်တပ်ကြီး၏ အခြေအနေသည် မိမိပျက် စီးခြင်းကို ခံစားမိ သော်လည်း သွေးရူးသွေးတန်းဖြစ်လျက် ရှိသော ဒဏ်ရာရလျက်ရှိသည့် တိရစ္ဆာန် ကြီးတစ်ကောင် နှင့်သာ တူတော့သည်။ မော်စကိုမြို့သို့ ဝင်လာသည့်အချိန် မှ ဗုန်းဗုန်းလဲ ပျက်စီးသည့်အချိန်အထိ နပိုလီယန်နှင့် ပြင်သစ်စစ်တပ်ကြီး၏ ပရိယာယ်များနှင့် ရည်ရွယ်ချက်  များကို လေ့လာရသည်မှာ သေကောင်ပေါင်းလဲ ဒဏ်ရာကို ရခဲ့သည့် သားရဲတိရစ္ဆာန်ကြီးတစ်ကောင်သည် ချွတ်ချွတ် မြည်သံကို ကြားရသည်၌ တောလိုက်မုဆိုး၏ သေနတ် ပြောင်းဆီသို့ မီးခိုးလျှောက် လိုက်လာ ပြီးနောက် တစ်ဖန် နောက်သို့ လှည့်ပြေးပြန်ကာ မိမိ၏ ပျက်စီးခြင်းကို ဖြစ်စေ သကဲ့သို့ နပိုလီယန်သည်လည်း မိမိစစ်တပ်ကြီး၏ တွန်းအားဖြင့် အလားတူ ပြုမူ လျက် ရှိလေသည်။ တာရူ တီနိုတိုက်ပွဲတည်းဟူသော ချွတ်ချွတ်မြည်သံသည် တော ကောင်ကြီးကို သွေးပျက်စေခဲ့၏။ တစ်ဖန် ပြန်လှည့် ပြေး၏။ ထို့နောက်၌ ဒဏ်ရာအနာတရ တောကောင် ကြီးတစ်ကောင်သဖွယ် အနံ့ဟောင်းရှိရာ အကျိုး အနည်း ဆုံး၊ အန္တရာယ်အများဆုံး လမ်းတစ်လျှောက်အတိုင်း ပြန် လှည့်ပြေးခဲ့လေ သည်။ ။

(လေသဘော်ဦးမှ နယားရုပ်ကြီးသည် လေသဘော်ာ ကြီးကို လမ်းညွှန်လျက် ရှိသည်ဟု တောတွင်းသား အရိုင်း အကြောင်းတစ်ယောက်၏ စိတ်တွင် ထင်မိ သကဲ့သို့) ဤလူပ် ရှားမှုကြီးတစ်ရပ်လုံးကို ခေါင်းဆောင်လျက်ရှိသည်ဟု ကျွန်ုပ်တို့ စိတ်တွင် ထင်လျက်ရှိသော နပိုလီယန်သည် ထိုတိုက်ပွဲစဉ် ကာလတစ်လျှောက်

လုံး၌ ရထားထက်တွင် ထိုင်၍ ကြိုး နှစ်ချောင်းကို ကိုင်ကာမျှဖြင့် ထိုရထားကြီးကို မိမိက မောင်းနှင်လျက်ရှိသည်ဟု အထင်ရောက်လျက် ရှိသော ကလေးငယ်တစ်ယောက်သဖွယ် ပြုမူလှုပ်ရှားခဲ့ ချေသည်တကား။

## အခန်း ၁၁

အောက်တိုဘာလ ၆ ရက်နေ့ နံနက်စောစော၌ ပီယာသည် တင်းကုပ်ပြင်ဘက်သို့ ထွက်လာခဲ့၏။ ပြန်အဝင်တွင် တံခါးဝ၌ရပ်ကာ မိမိနောက်သို့ ခုန်လိုက်လာသော ကိုယ်လုံး ရှည်ရှည် ခြေခွင်ခွင်၊ အမွေးပြာမွဲမွဲ ခွေးငယ် တစ်ကောင်နှင့် ကစားလျက်ရှိ၏။ ထိုခွေးငယ်မှာ ၎င်းတို့ တင်းကုပ်ထဲ တွင်နေ၍ ညတွင် ကာရာတာယက်၏ဘေး၌ အိပ်လေ့ရှိ သည်။ ခွေးငယ်သည် တစ်ခါတစ်ရံ ပျောက်သွားကာ မြို့ ထဲသို့ လျှောက်လည်နေတတ်သော်လည်း အမြဲတမ်း ပြန် ရောက်လာတတ်လေသည်။ ထိုခွေးငယ်တွင် ပိုင်ရှင်ဟူ၍ လည်း ရှိဟန် မတူခဲ့။ ယခုလည်း ပိုင်ရှင်မရှိသေးချေ။

အမည်လည်းမရှိချေ။ ထိုခွေးငယ်ကို ပြင်သစ်တို့က အေဇော ဟုခေါ်ကြ၍ ပုံပြောလေ့ရှိသော စစ်သားတစ်ဦးကမူ ဖီဖာဂါ ဟု ခေါ်လေ့ရှိသည်။ ကာရာတာယက်နှင့် အခြားသူများကမူ ၎င်းကို "နက်ကျော်"ဟုလည်းကောင်း၊ တစ်ခါတစ်ရံ "စုတ်ဖွား'ဟုလည်းကောင်း ခေါ်ကြလေသည်။ မိမိ၌ ပိုင်ရှင်၊ အမည်၊ အရောင်အသွေး (မည်သည့်အမျိုးဟု ခွဲခြာ.ရန်ပင် မလွယ်ပါ။) စသည်တို့ မရှိသည့်တိုင်အောင် ထိုခွေးငယ်မှာ အနည်းငယ်မျှ ပမာထားပုံ မရချေ။ ၎င်း၏ စုတ်ဖွားဖွားဖြစ်လျက်ရှိသော အမြီးသည် ငှက်တောင်တစ်ခုသဖွယ် တောင့်ခိုင်လုံးဝန်း၍ ထောင်လျက်ရှိ၏။ ခွင်လျက်ရှိသော ခြေထောက်များမှာ ၎င်းကိုယ်နှင့် အံကျဖြစ်လျက် ရှိကာ တစ်ခါတစ်ရံတွင် ခြေလေးဖက်ကို အသုံးပြုရန် ငြီးငွေ့ သည့်နှယ်

နောက်ခြေတစ်ချောင်းကို ကြွ၍ သုံးချောင်း ထောက်ပြေးတတ်သေးသည်။ ထိုခွေးငယ်အဖို့အရာခပ်သိမ်း သည် ကျေနပ်နှစ်သိမ့်စရာချည်းသာ ဖြစ်၏။ တစ်ခါတစ်ရံတွင် ၎င်းသည် ပက်လက်လှန်ကာ မြူးထူး ပျော်ပါးလျက် ရှိတတ်ပြီး တစ်ခါတစ်ရံတွင်လည်း အရေးတကြီး စဉ်းစား တွေးတောလျက်ရှိဟန် ဣကြီးစွာဖြင့် နေစာလှုံနေတတ် သည်။ တစ်ခါတစ်ရံတွင်လည်း သစ်သားစကလေးတစ်ခု နှင့်သော်လည်းကောင်း၊ ကောက်ရိုးမျှင်လေး တစ်မျှင်နှင့် သော် လည်းကောင်း ကစားမြူးထူးလျက်ရှိသည်။

ယခုအချိန်၌ ပီယာ၏ အဝတ်အစားမှာ ညစ်ပတ် စုတ်ပြတ်လျက်ရှိသော ရှပ်အင်္ကျီ(၎င်းမှာတစ်ထည်တည်း သော ကိုယ်ပိုင်လက်ကျန် အဝတ်အစားဖြစ်သည်။) ကာရာ တာယက်၏ အကြံပေးချက်အရ အချမ်းလုံရန် ခြေကျင်း ဝတ်တွင် ကြိုးဖြင့် စည်းထားသော စစ်ဘောင်းဘီ၊ လယ် သမားဝတ် အပေါ်ရုံအင်္ကျီတစ်ထည်နှင့် ဦးထုပ်တစ်လုံး တို့သာဖြစ်၏။ ထိုအတောအတွင်း၌ ပီယာ၏ ရုပ်ဆင်း သဏ္ဌာန်မှာ များစွာပြောင်းလဲခဲ့လေပြီ။ မျိုးရိုးလိုက်သည့် အတွက် တောင့်တင်းသန်မာပုံရသေးသော်လည်း ခွန်အား မရှိတော့ပြီ။ ၎င်း၏ မျက်နှာအောက်ပိုင်းတစ်ခုလုံးသည် မုတ်ဆိတ်မွေး၊ နှုတ်ခမ်းမွေးတို့ဖြင့် ဖုံးအုပ်လျက်ရှိ၍ သန်းစွဲကာ ဘုတ်သိုက် ဖြစ်လျက်ရှိသော ဆံပင်သည် ခေါင်းပေါ်၌ ဦးထုပ်ပြားတစ်လုံး ဆောင်းထားသည့်နှယ် ခွေလိပ်လျက်ရှိ၏။ ၎င်း၏မျက်လုံးသည် ယခင်ကကဲ့သို့ မဟုတ်တော့ဘဲ ပြတ်သားတည်ငြိမ်ကာ ထက်သန်လျက် ရှိ၏။ ယခင်က မျက်လုံးများထဲအထိ လိုက်၍ ထင်ဟပ် ဖော်ပြလျက်ရှိသော လျော့ရဲပျင်းတွဲမှုသည် ပျောက်ကွယ် သွားကာ တစ်စုံတစ်ရာကို တစ်ဇွတ်ထိုးပြုလုပ်ရန် အဆင်သင့်ဖြစ်လျက်ရှိဟန် ထိလိုက်သည်နှင့် တုံ့ပြန်ရန် အဆင် သင့်ဖြစ်လျက် ရှိဟန်တို့သည် ခွန်အားအပြည့်ဖြင့် အထင်း သားပေါ်နေကြ၏။ ခြေထောက်တွင် ဖိနပ်လည်း မရှိ တော့ချေ။

ပီယာသည် နံနက်က ယာဉ်ရထားများနှင့် မြင်း တပ်များ ဖြတ်သန်းသွားရာ ကွင်းပြင်ကြီးကို ကြည့်လျက် ရှိ၏။ ထို့နောက် မြစ်ကမ်းတစ်ဖက်သို့ မျှော်ကြည့်၏။ တစ်ဖန် မိမိအား ဆတ်ခနဲ ဆတ်ခနဲဆွဲကာ ကိုက်ဟန် ပြုနေသော ခွေးကို ငုံ့ကြည့်မိ၏။ ထို့နောက် တစ်ဖန် ၎င်း၏ ညစ်ပတ်ပေရေနေသော ခြေချောင်းကြီးများကို ကွေးချည်ဆန့်ချည်ပြုရင်း ဗလာသက်သက်ဖြစ်နေသော ခြေထောက်များကို အနေအထားအမျိုးမျိုးထား၍ ကြည့် မိ၏။ ၎င်း၏ ဗလာခြေထောက်များကို ငုံ့ကြည့်မိသည့် အခါတိုင်း၌လည်း ထက်သန်ကျေနပ်သော အပြုံးတစ်ခု သည် ၎င်း၏မျက်နှာပေါ်တွင် ယှက်သန်းလာတတ်လေ သည်။ ဤခြေထောက်များကို ကြည့်လိုက်တိုင်း ဤ အတောအတွင်း မိမိကြုံတွေ့ လေ့လာခဲ့ရသည်များကို အမှတ်ရလာ၏။ ထိုသို့ ပြန်လည် စဉ်းစားရခြင်းသည် ၎င်းအဖို့ ကြည်နူးစရာဖြစ်လျက် ရှိလေသည်။

ရာသီဥတုမှာ ငြိမ်သက်၍ နံနက်စောစောတွင် နှင်း မှုန်ဖွဲဖွဲကလေးများ ကျတတ်၏။ ထိုရာသီကား "အဘွား အိုကြီးများ၏ နွေရာသီ"ဟု ခေါ်ကြသော ရာသီဥတုမျိုး ဖြစ်လေသည်။

နေခြည်ထဲ၌ လေသည် ပူနွေးလျက်ရှိ၍ လေထဲ တွင် ပျံဝဲလျက်ရှိနေသေးသော၊ နှင်းမှုန်ကလေးများ၏ ခွန်သစ်အားသစ်ဖြစ်စေသော လန်းဆတ်သန့်ရှင်းခြင်းနှင့် ပေါင်းစပ်လိုက်သောအခါတွင် ထိုအနွေးဓာတ်သည် အထူး နွေးထွေးနှစ်လိုဖွယ်ရှိလှသည်ဟု ထင်ရပေသည်။

ဆောင်းဦးပေါက် ထိုအချိန်မျိုးတွင် တွေ့ရလေ့ ရှိသော ပြိုးပြိုးပြက်ပြက် အရောင်တို့သည် အနီးအဝေး မြင်မြင်သမျှ အရာဝတ္ထုများပေါ်တွင် တလွင်လွင် လက်နေ ကြသည်။ ရွာကလေးတစ်ရွာ၊ သုခမ္ဘာဇရပ်တစ်ဆောင်၊ အိမ်ဖြူတစ်လုံးနှင့်တကွ တည်ရှိသော "စာကလေး' တောင်  ကုန်းကို အဝေးတွင်မြင်ရ၏။ အရိုး

အရွက် မရှိတော့သော သစ်ပင်များ၊ အိမ်အုတ်ကွပ်မိုးများ၊ စိမ်းနေသော သုဓမ္မာ ဇရပ်ဘုံဆောင်များ၊ အဝေးတွင်မြင်ရသည့် အိမ်ဖြူမှ ပန်းဆွဲများသည် ပါးလွှာသော လေထုထဲတွင် ကောက် ကြောင်းခြစ်ထားသည့်နှယ် ပီပီပြင်ပြင် ပေါ်လျက်ရှိကြ၏။ အနီး၌ကား ပြင်သစ်တို့ သိမ်းပိုက်ထားသော မီးတစ်ဝက် လောင်ထားသည့် စံအိမ်ကြီးတစ်အိမ်မှ မြင်နေကျ အပျက် အစီးတို့ကို မြင်ရသည်။ ထိုစံအိမ်ရှေ့ ခြံစည်းရိုးမှ နှင်းပန်း ချုံကြီးများမှာ ယခုတိုင် စိမ်းလန်းလျက်ရှိကြသေးသည်။ အံ့မှိုင်းလျက်ရှိသော ရာသီတွင် အရုပ်ဆိုးလှသော ထိုစံအိမ် ပျက်ကြီးသည်ပင်လျှင် ကြည်စင်ဝင်းပသော အလင်းရောင် ၌ တည်ငြိမ်သောအလှကို ဆောင်လျက်ရှိသည် ထင်ရ၏။

ကုတ်အင်္ကျီကြယ်သီးကို ဖြုတ်၍ သံပရာခွံဦးထုပ် ကို ဆောင်းကာ ဆေးတံတိုတစ်ချောင်းကို ပါးစောင်တွင် ခဲထားသည့် ပြင်သစ်တပ်ကြပ်တစ်ယောက်သည် တင်းကုပ် နောက်ဖေးထောင့်စွန်းမှ ပီယာထံသို့ လျှောက်လာရင်း မျက်စိတစ်ဖတ်မှိတ်ပြ၍ ပီယာကို တရင်းတနှီး နှုတ်ဆက် လိုက်သည်။

“မွန်ရှီယာ ကီရဲရေ (၎င်းတို့ကခေါ်သော ပီယာ၏ အမည်) နေရောင်ကလေး များတောင် ပွင့်လို့။ နွေဦး ပေါက်ကလေးကျနေတာပဲ”

ပြင်သစ်တပ်ကြပ်သည် တံခါးကိုမှီ၍ ရပ်ကာ ပီယာအား ၎င်း၏ဆေးတံကို ထိုးပေးသည်။ ၎င်း၏ ဆေးတံဖြင့် ဧည့်ခံသည့်အခါတိုင်း ပီယာကလည်း ငြင်းဆန်သည်သာ ဖြစ်ပါသည်။ ။ , “ဒီလိုရာသီမျိုးတပ်ထွက်လိုက်ရရင်ဗျာ။ တောက်” ပြင်သစ်တပ်ကြပ်က ပြော၏။

“ပီယာက မိမိတို့ခရီးထွက်ခွာရေးနှင့် ပတ်သက်၍ မည်သို့ကြားသနည်းဟု မေးမြန်းခြင်းပြုသည်။ ပြင်သစ် စစ်တပ်များအားလုံး စတင်ထွက်ခွာလျက်ရှိကြောင်း၊ သုံ့ပန်း အကျဉ်းသားများနှင့် ပတ်သက်၍လည်း ယနေ့ပင် အမိန့် ရောက်

သင့်ပြီဖြစ်ကြောင်းဖြင့် ၎င်းက ပြောပြလေသည်။ တင်းကုပ်ထဲတွင် ပီယာနှင့်အတူ နေထိုင်လျက်ရှိသော ဆိုကိုလော့ဗ်ဆိုသူ စစ်သုံ့ပန်းတစ်ယောက်မှာ အကြီးအကျယ် နာမကျန်းဖြစ်လျက်ရှိရာ ၎င်းနှင့်ပတ်သက်၍ တစ်စုံတစ်ရာ စီစဉ်ပေးသင့်ကြောင်းဖြင့် ပီယာက ပြော၏။ ဤကိစ္စအတွက် စိုးရိမ်ဖွယ်မရှိကြောင်း၊ လူနာတင်လှည်း များနှင့် ဆေးရုံရှိကြောင်း၊ လူမမာများအတွက် အစီအစဉ် များ လုပ်ပေးလိမ့်မည် ဖြစ်ကြောင်း၊ ခြုံပြောရလျှင် အာဏာပိုင်များက အစစအရာရာ ကြိုတင်စီမံပြီး ဖြစ် ကြောင်းဖြင့် ပြင်သစ်တပ်ကြပ်က ပြောပြလေသည်။

“ဒါမှ မဟုတ်သေးရင်လဲ ခင်ဗျားကိုယ်တိုင် ဗိုလ်ကြီးကို ပြောကြည့်ပါလားဗျ။ ဗိုလ်ကြီးက အလွန်စေ့စပ် သေချာတာပါ။ ဗိုလ်ကြီး လူစစ်ဖို့ဝင်လာတဲ့အခါကျရင် ပြောကြည့်ပေါ့။ လုပ်ပေးပါလိမ့်မယ်” ။

(ပြင်သစ်တပ်ကြပ်ပြောသည့် ဗိုလ်ကြီးမှာ ပီယာနှင့် မကြာမကြာ လာရောက် စကားပြောတတ်၍ ပီယာကို အခွင့်အရေးအမျိုးမျိုး ပေးလေ့ရှိသည်။)

”တစ်နေ့ကတောင် ဗိုလ်ကြီးက ကျွန်တော့်ကို ပြောသေးတယ်ဗျ။ ဟော့ကောင်၊ သောမတ်စ်တဲ့။ မွန်ရှိ ယာကီရဲက ခေတ်ပညာတတ်နဲ့ တူတယ်တဲ့။ ပြင်သစ် စကားလ် ကောင်းကောင်းပြောတတ်တယ်တဲ့။ သူလဲ ဒုက္ခ ရောက်နေတဲ့ ရုရှားတစ်ယောက်ပါကွာ။ လူလူချင်းပဲ .တဲ့။ သူက တော်တော်နှံ့စပ်ပုံလဲ ရတယ်ကွတဲ့။ ငါ့ဆီ တစ်ခုခုလာတောင်းရင်တော့ ငါလဲ လုပ်ပေးမှာပါကွာတဲ့။ ပညာတတ်တစ်ယောက်ဟာ ကိုယ်လိုပညာတတ်ချင်း၊ မျိုးကောင်း ဆွေကောင်းချင်းဆိုရင် အပေါင်းအသင်းလုပ် ကြတာပဲကွလို့ ပြောတယ်ဗျ။ ရဲဘော်ကြီးမို့လို့ ကျုပ်ပြောတာနော်။ တစ်နေ့ကဖြစ်တဲ့ ကိစ္စတုန်းကလဲ ခင်ဗျားမို့လို့၊ ဒိပြင်လူဆိုရင် ဘာက်သက်သာမလဲ”

ပြင်သစ်တပ်ကြပ်သည် အတန်ကြာ စကားပြောပြီး နောက် ပြန်ထွက်သွား၏။ (တပ်ကြပ်ပြောသွားသည့် ကိစ္စ မှာ ရက်အနည်းငယ်က ပြင်သစ်စစ်သားများနှင့် အကျဉ်း သားများ ရန်ဖြစ်သည့်ကိစ္စဖြစ်၏။ ထိုရန်ပွဲတွင် ပီယာက ကြားဖြန်ကာ ၎င်း၏ရဘောဘ်များကို ဖျောင်းဖျခဲ့ခြင်းဖြစ် သည်။) ပီယာနှင့် ပြင်သစ်တပ်ကြပ် စကားပြောဆိုနေသံကို ကြားရသည့် အကျဉ်းသားများက ပြင်သစ်တပ်ကြပ်ဘာ ပြောသွားသနည်းဟု ဝိုင်းအုံမေးမြန်းကြသည်။ ပီယာက ပြင်သစ်စစ်တပ်များ မော်စကိုမှ ထွက်ခွာတော့မည့် အကြောင်းကို ပြောဆိုလျက်ရှိစဉ် ပိန်ပိန်ပါးပါး၊ အသား ဝါဝါ စုတ်စုတ်ပြတ်ပြတ် ပြင်သစ်စစ်သားတစ်ယောက် တံခါးဝတွင် ပေါ်လာ၏။ ၎င်းက နှုတ်ဆက်သည့်သဘော ဖြင့် လျင်မြန်ကြောက်ရွံ့စွာ ပီယာကို ဆလံပေးလိုက်ပြီး နောက် မိမိအတွက် ရှပ်အင်္ကျီတစ်ထည်ချုပ်ပေးရန် အပ် ထားသည့် တပ်သား ပလာတိုရှီ ဤတင်းကုပ်ထဲတွင် ရှိသလောဟု မေးမြန်းခြင်းပြု၏။

လွန်ခဲ့သည့် တစ်ပတ်ခန့်က ပြင်သစ်တပ်သား များအား ဆိုင်ရာမှ ဖိနပ်သားရေနှင့် အဝတ်စများ ထုတ်ပေး ခဲ့ရာ ၎င်းတို့သည် အင်္ကျီများ၊ ဖိနပ်များ ချုပ်ပေးရန် အကျဉ်းသားများကို လာရောက် အပ်နှံထားကြသည်။

“ရမယ် ရဲဘော်ကြီးရေ၊ ရမယ်။ အဆင်သင့်ပဲ” ကာရာတာယက်သည် သေသပ်စွာ ခေါက်ထားသော ရှပ် အင်္ကျီတစ်ထည်ကို ကိုင်၍ ထလာသည်။ . ရာသီဥတု နွေးထွေးသည့် အတွက်ကြောင့် တစ် ကြောင်း၊ အလုပ်လုပ်ရာတွင် သက်သောင့်သက်သာ ရှိ စေရန်အတွက် တစ်ကြောင်း ကာရာတာယက်သည် ဘောင်းဘီနှင့် လက်နှီးစုတ်ပမာ မည်းညစ်လျက်ရှိသော ရှပ်အင်္ကျီစုတ်တစ်ထည်ကိုသာ ဝတ်ထား၏။ အလုပ်သမား များကဲ့သို့ ၎င်း၏ဆံပင်ကို လျှော်ကြိုးတစ်ချောင်းနှင့် စည်းထား၏။ ၎င်း၏ ပြည့်ဝိုင်းသောမျက်နှာသည် ခါတိုင်း ထက်ဝိုင်းကာ ခါတိုင်းထက် ချိုသာလျက်ရှိသည်ဟု ထင် ရသည်။

“ကတိုသည် အလုပ်၏ အစ်ကိုကြီးဖြစ်၏”တဲ့ဗျ။ ရဲဘော်ကြီး သောကြာနေ့ အင်္ကျီလာအပ်တုန်းက ကျုပ် ပြောခဲ့တယ် မဟုတ်လား။ ဟော ခု အဆင်သင့်ပဲဗျ” ကာရာတာယက်က ပြုံးပြောကာ ၎င်းချုပ်ထားသည့် အင်္ကျီကို ဖြန့်လိုက်သည်။

ပြင်သစ်စစ်သားသည် စိတ်မသက်မသာဖြင့် ပတ် ဝန်းကျင်ကို လှမ်းကြည့် လိုက်ပြီးနောက် စိတ်ပိုင်းဖြတ် လိုက်ဟန်ဖြင့် ၎င်း၏ စစ်ဝတ်စုံကို လျင်မြန်စွာ ချွတ်လိုက်၍ ရှပ်အင်္ကျီကို ဝတ်ကြည့်သည်။ ၎င်း၏ ဝါကျင့်ကြုံလှီ သော ခန္ဓာကိုယ်ပေါ်တွင် စေးထန်းလျက်ရှိသော ပန်းရိုက် ပိုးခါးတို အင်္ကျီတစ်ထည်ကို ဝတ်ထားသော်လည်း ရှပ် အင်္ကျီမပါချေ။ မိမိအား အကျဉ်းသားများ ဟားတိုက်ရယ် ကြမည်လောဟု မလုံမလဲဖြစ်လျက်ရှိရာက ရှပ်အင်္ကျီ အပေါက်ထဲသို့ ခပ် သုတ်သုတ် ခေါင်းလျှိုလိုက်သည်။ မည်သည့် အကျဉ်းသားကမျှ မပြောကြချေ။

“ကဲ၊ ကြည့်စမ်းပါဦး၊ အတော်ပဲ” ကာရာတာ  ယက်က တဖွဖွပြောရင်း အင်္ကျီကို အောက်သို့ ဆွဲဆန့် ပေးနေသည်။

ပြင်သစ်စစ်သားသည် မျက်စိမှိတ်၍ ခေါင်းနှင့်လက် တို့ကို စွပ်လိုက်ပြီး နောက် ချုပ်ရိုးများကို ကြည့်နေသည်။

“ရဲဘော်ကြီးရေ၊ အပ်ချုပ်ဆိုင်လောက်တော့ ကောင်းမှာ မဟုတ်ဘူးဗျ။ ဘာ ပစ္စည်းကိရိယာမှ ရှိတာ မဟုတ်ဘူး။ ပစ္စည်းကိရိယာမရှိရင် သန်းကြီးမတစ်ကောင် တောင် သတ်လို့ မရဘူးတဲ့ဗျ” ကာရာတာယက်က ၎င်း ၏လက်ရာကို ကျေနပ် လျက် ရှိဟန်ဖြင့် ၎င်း၏အပြုံးပြပြ ကြီးဖြင့် ပြောလိုက်သည်။

“ကောင်းတယ်။ အားကြီးကောင်းတယ်။ သိပ် ကျေးဇူးတင်တယ်” ပြင်သစ် စစ်သားက ပြင်သစ်လို ပြော လိုက်သည်။ “ဒါပေမဲ့ အစတွေ ကျန်သေးတယ် မဟုတ် လား”

"ကြည့်စမ်း။ ခင်ဗျားကိုယ်နဲ့ အတော်ပဲ။ ဒါတောင် တိုင်းချုပ်ထားတာ မဟုတ်သေးဘူး" ကာရာတာယက်က ၎င်း၏လက်ရာကို ကျေနပ်၍ မပြီးနိုင်သေးဘဲ ချီးမွမ်းခန်း ဖွင့်နေပြန်သည်။ "ဒီအင်္ကျီနဲ့သာဆိုရင် ရဲဘော်ကြီးကတော့ "ပုံနေတာပဲ"

"ကျေးဇူးတင်တယ်။ အားကြီး ကျေးဇူးတင်တယ်။ ဒါပေမဲ့ ပိုတဲ့အစလေးကော" ပြင်သစ်စစ်သားက ပြော၍ ပြုံလိုက်သည်။ ပြင်သစ်စစ်သားသည် ရူဘဲငွေစက္ကူတု တစ်ချပ်ကို ထုတ်၍ ကာရာတာယက်ကို ပေးလိုက်သည်။ "ပိုတဲ့အဝတ်စလေးတော့ ပြန်ပေးဦးနော"

ကာရာတာယက်သည် ပြင်သစ်စစ်သား၏ စကား ကို နားမလည်ချင်ယောင်ပြုကာ "ယီးတီးယားတား"

လုပ်နေခြင်းကို ပီယာ သတိပြုလိုက်မိ၏။ ပီယာကလည်း မည်သို့မျှ ဝင်ရောက်ပြောဆိုခြင်းမပြုဘဲ အသာပင် ကြည့်နေ လိုက်သည်။ ကာရာတာယက်သည် ချုပ်ခပေးသည့်အတွက် ပြင်သစ်စစ်သားကို ကျေးဇူးစကားဆိုပြီးနောက် ၎င်း၏ လက်ရာကို ဆက်လက်ချီးမွမ်းပြောဆိုလျက် ရှိလေသည်။

ပြင်သစ်စစ်သားကလည်း ပိုသောအဝတ်စကို တကျီကျီ တောင်းလျက်ရှိကာ မိမိစကားကို ဘာသာပြန်ပေးရန် ပီယာကို လှမ်းပြောလိုက်သည်။

"ဒီအဝတ်စ အပိုလေးကို ကတ်ကတ်သတ်သတ် လိုက်တောင်းနေရသေးတယ်ဗျာ" ကာရာတာယက်က ပြောလိုက်သည်။ "ကျုပ်တို့ ခြေပတ်ကလေး ဘာကလေး လုပ်ရတာပေါ့။ အေးလေ၊ ပြန်လိုချင်ရဲလဲ ပေးရမှာပေါ့"

ကာရာတာယက်၏ မျက်နှာသည် စိတ်မကောင်း သော အမူအရာသို့ ရုတ်ခြည်းပြောင်းသွားကာ ၎င်း၏ အိတ်ထဲမှ ကြိုးဖြင့်စည်းထားသော အဝတ်စ

အပိုင်းကလေး ကို ထုတ်ယူ၍ ပြင်သစ်စစ်သားကို မကြည့်ဘဲ လှမ်းပေး လိုက်သည်။ "လုပ်ကြပေါ့ကွာ"ဟုဆိုကာ ကာရာတာယက် သည် လှည့်ထွက်သွား၏။ ပြင်သစ်စစ်သားသည် အပိုစ အဝတ်ပိုင်းကလေးကိုကြည့်ကာ အတန်ကြာမျှ တွေနေ ပြီးနောက် ပီယာကို အကဲခတ်ကြည့်လျက်ရှိ၏။ ပီယာ၏ အကြည့်သည် ၎င်းအား တစ်စုံတစ်ရာပြောလိုက်သည့်နှယ် ပြင်သစ်စစ်သားသည် မျက်နှာနီရဲသွားရာမှ အသံညှက်ညှက် ကလေးဖြင့် ကာရာတာယက်ကို လှမ်းခေါ်သည်။

"ပလာတိုရှီ၊ ဟေး ပလာတိုရှီ၊ လိုချင်ရင်လဲ ယူထားလိုက်လေ" ပြင်သစ်စစ်သားသည် အဝတ်ပိုင်း ကလေးများကို လှမ်းပေးကာ လှည့်ထွက်သွားလေသည်။

"ဒီလိုဆိုတော့လဲ ဘယ်ဆိုးလို့လဲဗျ" ကာရာ တာယက်က ခေါင်းကိုယမ်းရင်း ပြော၏။ "ဒီကောင် တွေဟာ ခရစ်ယာန်မဟုတ်ဘူးလို့ ဆိုပေမယ့် စိတ်နှလုံး ကောင်းတော့ ရှိပါတယ်ဗျ။ အေးလေ၊ ဒါ့ကြောင့် "ချွေး စိုသော လက်ဖဝါးသည် ပွင့်၍ ခြောက်သော လက်ဖဝါး သည် ပိတ်၏'လို့ လူကြီးသူမများ ပြောကြတာပဲ။ ကြည့် စမ်း၊ သူ့မှာ ခြေပတ် ပတ်စရာ မရှိပေမယ့် ပြန်ပေးခဲ့ရာ သားပဲဗျ"

ကာရာတာယက်သည် စဉ်းစား၍ ပြုံးလျက်ရှိရာက အဝတ်ပိုင်းကလေးများကို ကြည့်နေသည်။

"ရဲဘော်ကြီးရဲ့ ခြေပတ်ကလေး ကောင်းကောင်း တစ်စုံတော့ ရပြန်ပြီဗျ" ကာရာတာယက်သည် ဤသို့ ဆိုကာ တဲကုပ်ထဲသို့ ပြန်ဝင်သွားလေသည်။

## အခန်း ၁၂

ပီယာ အကျဉ်းချခံခဲ့ရသည်မှာ ရက်သတ္တလေးပတ် ကြာခဲ့ လေပြီ။ ပြင်သစ် အာဏာပိုင်တို့က ၎င်းအား တင်းကုပ်ထဲမှ အရာရှိအကျဉ်းသားများထားရာ တဲ တစ်လုံးသို့ ပြောင်းရွှေ့ ခွင့်ပေးသော်လည်း ပီယာသည် မိမိ ရောက်စက နေထိုင်ရာ တင်းကုပ်မှာပင် ဆက်လက်နေထိုင်ခဲ့သည်။

မီးလောင်ပျက်စီးလျက်ရှိသော မော်စကိုမြို့ကြီးထဲ၌ ပီယာသည် လူတစ်ယောက် အဆုံးစွန်ခံနိုင်သော ဒုက္ခ ဆင်းရဲမျိုးကို ကြုံတွေ့ခဲ့ရ၏။ သို့ရာတွင် မိမိ၏ ကျန်းမာ ရေး ကောင်းမွန်ခြင်း၊ ခန္ဓာကိုယ်တောင့်တင်းခြင်း (မိမိကိုယ် ခန္ဓာ ကျန်းမာတောင့်တင်းခြင်းကို ထိုအချိန်ကျမှပင် ပီယာ ( သတိပြုမိပါသည်။)နှင့် အထူးသဖြင့် ဒုက္ခဆင်းရဲသည် မည်သည့်အချိန်က စတင်ခဲ့သည်ဟု မပြောနိုင် လောက် အောင် တဖြည်းဖြည်း မသိမသာ ပေါ်ပေါက်လာခဲ့ခြင်း ထို့ကြောင့် ပီယာ သည် မိမိရောက်ရှိနေသော အခြေအနေကို အသာတကြည်မျှမက ဝမ်းသာ ရွှင်လန်းစွာ ခံနိုင်ခဲ့သည်။ ထိုအခါကျမှပင် မိမိအပတ်တကုတ် ရှာဖွေအားထုတ်ခဲ့ သော စိတ်၏ငြိမ်သက်ခြင်းနှင့် ချမ်းမြေ့ခြင်းတို့ကို ပီယာ ရရှိခဲ့သည်။ ပီယာသည် ဘိုရိုဒီနို တိုက်ပွဲတုန်းက စစ်သား များထံတွင် တွေ့မြင်ခဲ့ဖူး၍ တောင့်တမိခဲ့သော သန္တိသုခဟု ဆိုအပ်သော စိတ်၏ ကြည်လင်ငြိမ်သက်ခြင်းနှင့် သမာဓိ ဟု ဆိုအပ် သော အတွင်း အဇ္ဈတ္တသန္တာန်၏ ညီညွတ်မှု ကို ကာလကြာမြင့်စွာကပင် ရှာဖွေခဲ့ သည်။ အများကောင်း ကျိုးကို ဆောင်ရွက်ခြင်း၊ ညီအစ်ကိုတော်ဂိုဏ်း၏ တရား များကို သက်ဝင်ယုံကြည်ခြင်း၊ ရွှေမြို့တော်တွင် အသောက် အစား အပျော်အပါး တို့၌ မွေ့လျော်ခြင်း၊ အရက်သောက် ခြင်း၊ သူရဲကောင်းဆံဆံ ကိုယ်ကျိုးစွန့်ပြခြင်း၊ နာတာရှာ ' အား စိတ်ကူးယဉ်အချစ်ဖြင့် ချစ်ခဲ့ခြင်း စသည့် နည်း လမ်းတို့ဖြင့် စိတ်၏ ကြည်လင်ငြိမ်းချမ်းခြင်းကို ရှာဖွေခြင်း ပြုခဲ့သည်။ ဆင်ခြင်တုံတရားဖြင့် လည်း ရှာဖွေခြင်းပြုခဲ့ သည်။ သို့ရာတွင် ဤနည်းလမ်းများ၊ “ရှာပုံတော်များသည် အကျိုးမဲ့ အချည်းနှီးသာ ဖြစ်ခဲ့လေသည်။ ယခုသော် ( သေခြင်းကို ရင်ဆိုင်ရခြင်း

ကြောင့်လည်းကောင်း၊ ဒုက္ခ ဆင်းရဲကို ကြုံတွေ့ရခြင်း ကြောင့်လည်းကောင်း၊ ကာရာ တာယက်၏ စိတ်နေသဘောထားကို လေ့လာခြင်းကြောင့် လည်းကောင်း ထို စိတ်၏ ကြည်လင်ငြိမ်းချမ်းခြင်းနှင့် အဇ္ဈတ္တသန္တာန်၏ ညီညွတ်ခြင်းကို ရှာဖွေခြင်း မပြုရဘဲ တွေ့ ရလေပြီ။

လူသတ်ကုန်းတွင် မိမိသေချေတော့မည်ဟု ရင် တထိတ်ထိတ်ဖြစ်ခဲ့ရသော ကြောက်ဖွယ့်အဖြစ်သည် မိမိ အဖို့ တစ်ခါက လွန်စွာ အရေးကြီးသည်ဟု ထင်ရသော ယောက်ယက်ခတ်မှုဖြစ်သည့် အတွေးများ၊ ခံစားချက်များ ကို မိမိခေါင်းထဲမှ ဆေးကြောသုတ်သင်ပစ်လိုက်လေ သလောဟုပင် ထင်ရတော့သည်။ ယခု အချိန်၌ ပီယာသည် ရုရှားနိုင်ငံကြီးအကြောင်းကို လည်းကောင်း၊ စစ်ပွဲကြီး အကြောင်းကို လည်းကောင်း၊ နိုင်ငံရေးအကြောင်းကို လည်းကောင်း၊ နပိုလီယန် အကြောင်းကိုလည်းကောင်း တွေးတောမိခြင်း မရှိတော့ပြီ။ ထိုအရာများသည် မိမိ၏အလုပ်လည်း မဟုတ်၊ ၎င်းတို့နှင့်ပတ်သက်၍ မိမိအား လာရောက်စဉ်းစား ဆုံးဖြတ်ပါဟု မည်သူကမျှ ဖိတ်မန္တက ပြုခြင်းလည်းမရှိ။ ထို့ကြောင့် ထိုကိစ္စများကို စဉ်းစား ဆုံးဖြတ်ရန်လည်း မလိုဟု ပီယာပြက်ပြက်ထင်ထင် သိမြင် ခဲ့လေပြီ။ "ရုရှားပြည်ကြီးနဲ့ နွေရာသီဟာ ကြိုးနဲ့အတူ ချည်ထားတာ မဟုတ်ဘူးဗျ"ဟု ကာရာတာယက်က တစ်ခါက ပြောဖူး၏။ ပီယာသည် ထိုစကားများကို ရွတ်ဆိုမိသည်။ မည်သည့်အတွက်ကြောင့်မသိ။ ထိုစကားများ သည် ၎င်း၏စိတ်ကို နှစ်သိမ့်မှုရစေလေသည်။ နပိုလီယန်ကို လုပ်ကြံမည်ဟူသော မိမိ၏ အကြံအစည်နှင့် ဗျာဒိတ်ကျမ်း လာ ဗေဒင်ဟောကိန်းတို့သည် ယခုသော် ပီယာ့အဖို့ အဓိပ္ပာယ်ကင်းမဲ့လျက်ရှိရုံမျှမက ရယ်ဖွယ်ကောင်းလျက် ရှိလေပြီ။ ဖောက်ပြားသော မိမိ၏ ကြင်ရာတော်အပေါ်တွင် ဒေါသထွက်ခဲ့ခြင်း၊ မိမိ၏ ဂုဏ်သိက္ခာ ညှိုးနွမ်းမည်ကို စိုးရိမ်ကြောင့်ကြဖြစ်ခဲ့မိခြင်း စသည်တို့သည်လည်း ယခု . အချိန်၌ ပီယာ့အဖို့ သေးနုပ် သိမ်ဖျင်းလျက် ရှိရုံမျှမက ရယ်ဖွယ်မျှသာ ဖြစ်ခဲ့လေပြီ။ မိမိ၏ ကြင်ရာ

တော်သည် ၎င်းကြိုက်နှစ်သက်သလို နေထိုင်ခြင်းပြုသည်ဆိုလျှင်လည်း မိမိအဖို့ ဘာအရေးနည်း။ မိမိ၏ နာမည်သည် မြို့စား ပီယာဘီဇူးကော့ဗ်ဟု ပြင်သစ် အာဏာပိုင်တို့ သိသွားသည် ဆိုလျှင်လည်း မည်သူ့အဖို့၊ အထူးသဖြင့် မိမိအဖို့ ဘာကိစ္စရှိသနည်း။

ယခုအချိန်၌ ပီယာသည် ၎င်း၏ရောင်းရင်းကြီး မင်းသားကလေးအင်ဒရေ ပြောဖူးသည့်စကားများကို မကြာ ခဏ သတိရမိသည်။ မင်းသားကလေးအင်ဒ ရေ၏ အတွေး အခေါ်များကို ကိုယ့်အဓိပ္ပာယ်နှင့်ကိုယ် နားလည်ခြင်း ဖြစ် သော်လည်း ၎င်း၏စကားများသည် သွေးထွက်အောင် မှန်လေစွဟု ငြင်းချက်မရှိ သဘောတူမိသည်။ မင်းသား ကလေးအင်ဒရေက "တောင့်တနေရခြင်းပင်လျှင် စိတ်၏ ပျော်ရွှင်ချမ်းမြေ့မှု ဖြစ်တော့သည်"ဟု ယူဆ၍ ထိုအတိုင်း လည်း ပြောခဲ့ သည်။ မင်းသားကလေးအင်ဒရေသည် ထိုစကားများကို ပြောခဲ့စဉ်က "မတောင့်မ တနေရခြင်းသည် ရလေလိုလေ ဆိုသကဲ့သို့ မည်သည့်အခါမျှ ပြည့်ဝသည် မရှိ သည့်အလျောက် စိတ်ဆင်းရဲပင်ပန်းခြင်းကိုသာ ဖြစ်စေ သည်'ဟု တကယ်ဆိုလို သည့်နှယ် နာကြည်း ခါးသီးစွာဖြင့် လောကကြီးကို အရွဲ့တိုက် ပြောခဲ့ခြင်းသာ ဖြစ် လေသည်။ သို့ရာတွင် ပီယာသည် ထိုအချက်ကို ငြင်းချက်မရှိ ယုံ ပေသည်။ သောကကင်းစွာ နေရခြင်း၊ လူတစ်ယောက် ( အသက်ရှင်နေနိုင်ရန် မရှိမဖြစ်သည့် အခြေခံလိုအပ်ချက် များ ပြည့်ဝခြင်း၊ ၎င်းနှင့်အတူ မိမိ၏အလုပ်ကို လွတ်လပ် စွာ ရွေးချယ်ခွင့်ရှိခြင်း (တစ်နည်းဆိုလျှင်လည်း မိမိနှစ်သက် သလို လွတ်လပ်စွာ နေထိုင်ခွင့်ရှိခြင်း) စသည့် အချက် များသည် ယခုသော် သံသယဖြစ်ဖွယ် မရှိ လောက်အောင် ပြည့်စုံသောလူ၏ ပျော်ရွှင်ချမ်းမြေ့မှုမျိုးဖြစ်ကြောင်းကို ပီယာ သဘောပေါက်ခဲ့လေပြီ။ ဆာလောင်မွတ်သိပ်သော အခါ၌ အစာစားရခြင်း၊ ရေငတ်သောအခါ၌ ရေသောက် ရခြင်း၊ အိပ်စက်ခြင်း ပြုလိုသောအခါ၌ အိပ်စက်ရ ခြင်း၊ ချမ်းအေးသောအခါ၌ နွေးထွေးစွာနေရခြင်း၊ စကားပြောလို သောအခါနှင့်

လူသားတစ်ယောက်၏အသံကို ကြားလို သောအခါ၌ လူသတ္တဝါအချင်းချင်း စကားပြောရခြင်း စသည်တို့သည် မည်မျှအရသာရှိကြောင်းကို အကျဉ်း ထောင်ထဲတွင် နေရစဉ် မိမိဘဝတွင် ပထမဆုံးအကြိမ် ပီယာ နားလည်ခဲ့လေပြီ။ ကောင်းမွန်စွာစားရခြင်း၊ သန့် ရှင်းစွာ နေရခြင်း၊ လွတ်လပ်စွာ နေထိုင်ရခြင်း စသည့် လူ၏အခြေခံလိုအပ်ချက် ဟူသမျှသည် ယခုအချိန်တွင် မိမိ၌ ကင်းမဲ့လျက်ရှိလေရာ ထိုအရာများ ပြည့်စုံခြင်းသည် အထွတ်အထိပ်ဖြစ်သော ပျော်ရွှင်ချမ်းမြေ့မှု ဖြစ်သည်ဟု ပီယာ ယူဆခဲ့လေပြီ။ မိမိအလုပ်ကို မိမိရွေးချယ်ပိုင်ခွင့်ရှိခြင်း ဟူသော လွတ်လပ်စွာနေပိုင်ခွင့်သည်လည်း ယခုအချိန်တွင် မိမိအဖို့ ကျဉ်းမြောင်းလျက် ရှိသည့်အလျောက် ထိုသို့ မိမိအလုပ်ကို မိမိရွေးချယ်ရသော ကိစ္စသည် လွန်စွာလွယ်ကူ သော အရာဟု ပီယာ ထင်တတ်နေလေပြီ။ ပီယာသည် ထိုသို့ ရှိသမျှနှင့် တင်းတိမ်ရောင့်ရဲ လျက်ရှိရကား လူ့ ဘဝ၏ စည်းစိမ်ချမ်းသာများ အလျှံပယ် ပေါများလာခြင်း သည် အခြေခံလိုအပ်ချက်ကလေးများကို ရခြင်းကြောင့်  ဖြစ်ရသော ပျော်ရွှင်ကြည်နူးမှုကို ဖျက်စီးလျက်ရှိသည် ဆိုသည့်အချက်ကို သတိမရတော့ပြီ။ မိမိ၏ အလုပ်အကိုင် ကို ရွေးချယ်ရာ၌ လွတ်လပ်လွန်းအားကြီးခြင်း (ဥပမာ ပီယာ့အဖို့ဆိုလျှင် ၎င်း၏ ပညာအဆင့်အတန်း၊ ဥစ္စာပစ္စည်းအဆင့်အတန်း၊ လူမှုရေး အဆင့်အတန်းတို့ကြောင့် မိမိ စိတ်သဘောကျ လွတ်လွတ်လပ်လပ်ကြီး နေနိုင်ခြင်းမျိုး) သည် မည်သည့်အလုပ်အကိုင်ကို လုပ်ကိုင်ရမည်ဟု လွန် မင်းစွာ အရွေးရခက်စေရုံမျှမက အလုပ်အကိုင်တစ်ခုခုကို လုပ်ကိုင်လိုသော ဆန္ဒ၊ အလုပ်အကိုင်တစ်ခု ရလိုသော အလားအလာများအား ဖျက်စီးပစ်လိုက်ကြောင်းကိုလည်း ပီယာ သတိမရတော့ပြီ။

ယခုအချိန်၌ ပီယာသည် ထောင်ကလွတ်လျှင် မည်သို့မည်ပုံ နေထိုင်မည်ဟူ၍သာ အမြဲတစေ ကြံစည် စိတ်ကူးလျက်ရှိလေသည်။ ထောင်မှ လွတ်ပြီးနောက် ၎င်း၏ ဘဝတစ်လျှောက်လုံးတွင် အဖမ်းခံခဲ့ရစဉ်က အဖြစ် အပျက်များ၊

ထိုစဉ်က ကြုံတွေ့ခဲ့ရသော၊ ပြန်မရနိုင် တော့သော၊ စွဲကျန်ရစ်ခဲ့သော၊ ရွှင်လန်း ဖွယ်ကောင်းသော ခံစားမှုများအကြောင်းကို မကြာခဏ သတိရကာ စိတ်အား ထက်သန်စွာ ပြောလေ့ရှိပေသည်။ အထူးသဖြင့် ထောင်ထဲ တွင် နေစဉ်ကသာ ကြုံတွေ့ခဲ့ရသော စိတ်၏ ကြည်လင် ငြိမ်းချမ်းမှုနှင့် စိတ်၏ လွတ်လပ်ခွင့်ကို အမှတ်ရလေ့ရှိကာ အားပါးတရ ပြန်ပြောတတ်လေသည်။ ။

ထောင်ထဲရောက်စ ပထမဆုံး နံနက်၌ ပီယာသည် အိပ်ရာမှ စောစွာထကာ အရဏ်တက်တွင် တင်းကုပ်ပြင် ဘက်သို့ ထွက်လာခဲ့၏။ ဝေလီဝေလင်းတွင် ခပ် ရေးရေး မျှသာ မြင်ရသည့် သီလရှင်ကျောင်းသစ်မှ ဘုံဆောင်များနှင့် လက်ဝါးကပ်တိုင်များကို မြင်ရ၏။ ဖုန်အလိမ်းလိမ်း ကပ်နေသော မြက်ပင်များပေါ် မှ နှင်းသီးများကို လည်း ကောင်း၊ "စာကလေး' တောင်ကုန်းကို လည်းကောင်း၊ အရုဏ်ဦး၏ မှုန်ပြာပြာထဲတွင် ပျောက်ကွယ်သွားသည့် ရစ်ခွေစီးဆင်းသော မြစ် တစ်ဖက်ရှိ တောအုပ်တို့ဖုံးနေသော ကမ်းပါးများကိုလည်းကောင်း မြင်မိ၏။ လတ်ဆတ် သင်းပျံ့သော နံနက်ခင်းလေပြည်လေညင်း၏ အထိအတွေ့ ကို ခံစား မိ၏။ မြို့ဘက်မှ ကွင်းပြင်များဘက်ဆီသို့ ပျံ သန်းသွားကြသောကျီးကန်းများ၏ တအာအာ အော်မြည် သံကို ကြားမိ၏။ ထို့နောက် အရှေ့မှ ရောင်နီလာကာ တိမ်တိုက်တစ်တိုက်၏နောက်မှ နေဝန်းကြီး ရဲရင့်တည် ကြည်စွာ ပေါ်ထွက်လာ သည်ကို သတိပြုမိ၏။ ဘုံဆောင် များ၊ လက်ဝါးကပ်တိုင်များ၊ နှင်းသီးနှင်းစက်များ နှင့်တကွ မြစ်ကြီးနှင့် မိုးကုတ်စက်ဝိုင်း စသည့် အရာခပ်သိမ်းတို့သည် ရွှင်လန်း သော နေခြည်အောက်၌ တဖျတ်ဖျတ် တောက်ပ လျက်ရှိခြင်းကို အာရုံထားမိ၏။ ထိုအခါ၌ ပီယာသည် မိမိတစ်သက်တွင် တစ်ခါမျှ မရှိသေးသော၊ အသစ်ဖြစ်သော ကြည်နူးရွှင်လန်းခြင်းနှင့် အားမာန်သတ္တိတို့ဖြင့် ပြည့်ဖြိုး လာသည်ဟု ခံစားမိလေ သည်။ ဤခံစားချက်သည် ထောင် သွင်းအကျဉ်းခံရစဉ် ကာလ၌သာကိန်းဝပ်

နေသည် မဟုတ်။ အခက်အခဲကို ကြုံတွေ့လာသည်နှင့်အမျှ ထုထည်ကြီးမား လာခဲ့လေသည်။

ဖျတ်လတ်တက်ကြွခြင်း၊ တစ်စုံတစ်ခုအတွက် အဆင်သင့်ဖြစ်ခြင်း စသည့် ထိုခံစားချက်သည် မိမိ တင်း ကုပ်အကျဉ်းစခန်းသို့ရောက်၍ ဘဝတူ အကျဉ်းသားများ၏ လေးစားအထင်ကြီးခြင်းခံရသည့်အခါ၌ ပို၍ ကြီးထွားလာခဲ့လေသည်။ ပြင်သစ်စကားတတ်ခြင်း၊ ပြင်သစ်တို့က လေးစားသမှု ပြကြခြင်း၊ ရိုးသားခြင်း၊ မိမိရှိသမျှကို နှမြောတွန့်တိုခြင်းမရှိ ပေးကမ်းတတ်ခြင်း (ပီယာမှာ တပ်ဗိုလ်များကဲ့သို့ တစ်ပတ်လျှင် ဒင်္ဂါးသုံးပြား ရသည်။) ဗလကောင်းခြင်း (ပီယာသည် တင်းကုပ်နံရံကို လက်ချောင်းထိပ်များဖြင့် ထိုးပြလေ့ရှိသည်။) ဘဝတူ များအား ဖော်ရွေပျူငှာစွာ ဆက်ဆံခြင်း၊ ကာလအတန် ကြာအောင် တိတ်ဆိတ်စွာ လှုပ်ရှားခြင်းမရှိ ထိုင်နေ တတ်ခြင်း၊ ဘာကိုမျှ မလုပ်ဘဲ စဉ်းစားလျက် ရှိတတ်ခြင်း (အဘယ်ကြောင့်ဤသို့ ကြာရှည်စွာထိုင်၍ စဉ်းစားနေနိုင် သည်ကို ၎င်းတို့ နားမလည်နိုင်ပါ။) စသည်တို့ကြောင့် ပီယာသည် ၎င်းတို့၏ အမြင်၌ ထူးဆန်း၍ မိမိတို့ထက် သာသော သတ္တဝါတစ်ယောက်ဟု ယူဆကြသည်။ ဗလ ကောင်းခြင်း၊ လူ့ဘဝ၏ စည်းစိမ်ချမ်းသာများကို ရွံ့မုန်း ခြင်း၊ သတိမေ့တတ်ခြင်း၊ အနေအထိုင် ရိုးသားခြင်း စသည့် အပြင်လောကတွင် မိမိအတွက် အန္တရာယ်မရှိသည့် တိုင် အတားအဆီးဖြစ်လျက်ရှိသော ထိုအရည်အချင်း များသည် ထောင်ထဲရှိ ဘဝတူ အကျဉ်းသားများကြား၌ ပီယာအား သူရဲကောင်းတစ်ယောက်အဖြစ်သို့ ပို့ဆောင် ပေးလျက် ရှိလေသည်။ ၎င်းတို့ အထင်ကြီးလေးစား သည်နှင့်အညီ ကျင့်ကြံနေထိုင်ရန် တာဝန်ရှိသည်ဟု ပီယာကလည်း ယူဆသည်သာဖြစ်ပါသည်။

## အခန်း ၁၃

အောက်တိုဘာလ၆-ရက်နှင့် ၇-ရက်အကူး ညဥ့်သန်းခေါင် ၌ ပြင်သစ်တပ်များ မော်စကိုမှ စတင်ပြောင်းရွှေ့ခြင်း ပြုကြလေသည်။ မီးလင်းဖိုများ၊ တင်းကုပ်များကို ဖျက်ဆီး ပစ်ခဲ့ကြ၏။ လှည်းများကို ဝန်အပြည့်တင်စေ၏။ ထို့ နောက်၌ စစ်တပ်များနှင့် ဝန်တင်လှည်းများသည် စတင် ထွက်ခွာလာခဲ့ကြလေသည်။

နံနက် ၇-နာရီ၌ စစ်ချီအဝတ်အစားများကို ဝတ် ဆင်ထားကာ ဦးထုပ်တစ်လုံးကို ဆောင်းထား၍ တစ်လုံး ထိုးသေနတ်များ၊ ကျောပိုးအိတ်များနှင့် ပြည့်ဖောင်းနေ သော အိတ်များကို လွယ်ထားသည့် ပြင်သစ်အစောင့် တပ်စုတစ်စုသည် တဲတန်းလျားကြီးများရှေ့တွင် အမှတ်စဉ် ခေါ်တန်းစီလျက်ရှိ၏။ ၎င်းတို့ထံမှ တစ်ယောက်တစ်ခွန်း ပြင်သစ်လိုပြောသံများ၊ ဆဲရေးသံများ ပေါ်ထွက်လာ လေသည်။

တင်းကုပ်များထဲ၌ကား အကျဉ်းသားများသည် အဆင်သင့်ဖြစ်လျက်ရှိကြ၏။ အဝတ်အစားလဲပြီး ခါးပတ် ပတ်ပြီး ဖိနပ်စီးပြီးဖြစ်ကာ ထွက်ခွာရန် အမိန့်ကို စောင့် လျက်ရှိကြ၏။ မျက်ကွင်းများညိုကာ ဖျော့တော့ကြုံလှီ လျက်ရှိသော အကျဉ်းသားလူမမာ ဆိုကိုလော့ဗ်သာလျှင် အဝတ်အစားလဲခြင်း၊ ဖိနပ်စီးခြင်း မရှိဘဲ ၎င်း၏နေရာတွင် ထိုင်လျက်ရှိသည်။ မျက်နှာချုံ့ကျလျက်ရှိခြင်းကြောင့် ပို၍ပြူးကျယ်နေဟန်ရှိသော ၎င်း၏မျက်လုံးကြီးများသည် ၎င်းအား ဂရုမစိုက်နိုင်ဘဲ အလုပ်များလျက်ရှိကြသည့် ၎င်း၏ ရဲဘော်များကို စူးစမ်းသောအကြည့်ဖြင့် ကြည့်လျက်ရှိကြသည်။ ဆိုကိုလော့ဗ်သည် လေသံပျော့ပျော့ဖြင့် မှန်မှန်ကြီး ညည်းလျက်ရှိ၏။ ၎င်းညည်းတွားလျက်ရှိခြင်း မှာ ဝေဒနာခံရခြင်းကြောင့်ထက် (၎င်းမှာ ဝမ်းကိုက်လျက် ရှိသည်။) တစ်ယောက်တည်း ချန်နေခဲ့ရမည်ကို စိုးရိမ်ကြောက်လန့်ခြင်းကြောင့် ဖြစ်ဟန်တူသည်။ ။

ပီယာသည် လူမမာထံသို့ ထလာကာ ၎င်း၏ " ဘေးတွင် ဆောင့်ကြောင့်ထိုင်လိုက်သည်။ ပီယာမှာ ခါးတွင် ကြိုးတစ်ချောင်းကို စည်းထား

ကာ သားရေဖိနပ်တစ်ရန်ကို စွပ်ထားသည်။ ထိုသားရေဖိနပ်ကား ပြင်သစ်စစ်သား တစ်ယောက်က လက်ဖက်ရည်ခြင်းတစ်လုံးကို ဖွဲ့ဆုတ်ကာ ကာရာတာယက်အား ၎င်း၏ဖိနပ်ကို ပြင်အချုပ်ခိုင်းရာမှ ကျန်သော သားရေစဖြင့် ကာရာတာယက်က ချုပ်ပေး ထားခြင်းဖြစ်၏။

"ဒီမှာ ရဲဘော်ကြီး။ ပြင်သစ်တွေ အကုန်ထွက် မသွားပါဘူး။ ဒီမှာ ကျန်ရစ်ခဲ့ကြဦးမှာပါ။ ဆေးရုံတစ်ရုံ လဲ ရှိသေးတယ်။ ခင်ဗျားက ကျွန်တော်တို့ထက်တောင် ဟန်ကျဦးမှာ"ဟု ပီယာက ပြောလိုက်၏။

"ဘုရားကယ်ပါ။ ကျွန်တော် သေရတော့မယ် ထင်တယ်။ ဘုရား ကယ်ပါ"လူနာက အသံခပ်ကျယ်ကျယ် ဖြင့် ညည်းသည်။ ။

"ကဲ၊ ဒီလိုဆို ကျွန်တော် တိုက်ရိုက်သွားမေးဦး မယ်ဗျာ" ပီယာသည် ထကာ တင်းကုပ်တံခါးဝဆီသို့ လာခဲ့၏။

ပီယာ တံခါးဝအရောက်တွင် ယမန်နေ့က ၎င်းအား ဆေးတံပေးသောက်စေခဲ့သော ပြင်သစ်တပ်ကြပ်သည် နောက်လိုက်စစ်သားနှစ်ဦးနှင့်အတူ ပေါက်လာ၏။ ၎င်းတို့ အားလုံးမှာ ကျောပိုးအိတ်များ လွယ်ထားကာ စစ်ချီဝတ် စုံများ ဝတ်ထားကြ၏။ သတ္တုမေးသိုင်းကြိုးတပ် သံ ခမောက်များကြောင့် မြင်နေကျ ၎င်းတို့၏ မျက်နှာသည် အသွင်တစ်မျိုးဆောင်လျက်ရှိ၏။

တပ်ကြပ်များအမိန့်အရ တံခါးပိတ်ရန် ရောက်လာ ခြင်းဖြစ်၏။ အကျဉ်းသားများကို အပြင်သို့ မထုတ်မီ လူစစ်ရန် ဖြစ်လေသည်။ ။

"တပ်ကြပ်ရဲဘော်ကြီး၊ လူမမာကို ဘယ်လိုစီစဉ် မလဲ" ပီယာက စတင်မေး လိုက်၏။

သို့ရာတွင် စကားပြောနေစဉ်မှာပင် ယခုမိမိနှင့် စကားပြောနေသည့် တပ်ကြပ်ကြီးမှာ မိမိသိကျွမ်းဖူးသော တပ်ကြပ်လော၊ သို့မဟုတ် အခြားတစ်ယောက်လောဟု ပီယာ၏စိတ်တွင် သံသယဖြစ်လာခဲ့လေပြီ။ ထိုအချိန်၌၊ တပ်ကြပ်၏မျက်နှာသည် ခါတိုင်းကဲ့သို့ မဟုတ်ဘဲ တင်း လျက်ရှိ၏။ ပီယာ စကားပြောလျက်ရှိသည့်အချိန်မှာပင် ဘင်ခရာတီးသံများ ထွက်ပေါ်လာလေသည်။ တပ်ကြပ် သည် ပီယာကို မျက်နှာထားကြီးဖြင့် ကြည့်လိုက်ပြီးနောက် အော်ဟစ်ဆဲဆိုကာ တံခါးကို ဂျိမ်းခနဲမြည်အောင် ပိတ်၍ ထွက်သွားလေသည်။ တင်းကုပ်အတွင်း၌ ခပ်မှောင်မှောင် ဖြစ် ကျန်ရစ်ခဲ့သည်။ ဘေးတစ်ဖက်တစ်ချက်မှ ပေါ်ထွက် လာသော ဘင်ခရာသံများသည် လူမမာ၏ ညည်းသံကို ဖုံးသွားကြ၏။

"အင်း သေမင်းနဲ့ တစ်ချီတော့ တွေ့ရပြန်ပြီ" ပီယာသည် တစ်ကိုယ်တည်း ရေရွတ်မိရာမှ ၎င်း၏ ကျောပြင်တစ်လျှောက်သည် စိမ့်ခနဲ ဖြစ်သွား၏။ တင်းမာလျက်ရှိသော တပ်ကြပ်၏မျက်နှာတွင် လည်းကောင်း၊ ၎င်း၏လေသံတွင် လည်းကောင်း၊ နားကွဲမတတ် တဒိန်းဒိန်း မြည်လျက်ရှိသော ဘင်ခရာသံတွင် လည်းကောင်း လူ အချင်းချင်း တစ်ဦးကို တစ်ဦး သတ်ဖြတ်ရန် နှိုးဆော်တိုက်တွန်းလျက်ရှိသော နားလည်ရခက်၍ ရိုင်းပျ ကြမ်း ကြုတ်သည့် အင်အားစု၊ လူသတ်ကုန်းမှ ရှုမြင်၍ မကောင်းသော အခြင်းအရာတို့ကို ဖန်တီးခဲ့သော ထိုအင်အားစုကို ပီယာမြင်ရ ကြားရပြန်လေပြီ။ ထိုအင်အား စုကို ကြောက်ရွံ့ထိတ်လန့်နေခြင်း၊ ထွက်ပြေးရန် ကြိုးစား ခြင်း၊ ထိုအင်အားစု၏ တန်ဆာပလာများအဖြစ် အသုံး တော်ခံမည့်သူများကို တောင်းပန်တိုးလျှိုးခြင်း၊ တရား ပြခြင်းသည် အကျိုးမဲ့ အချည်းနှီးသာ ဖြစ်လေသည်။ ယခုအချိန်တွင် ပီယာသည် ထိုအချက်ကို ကောင်းစွာ နားလည်ခဲ့လေပြီ။ ထိုအင်အားစုကို စောင့်ဆိုင်းရင်ဆိုင် ရန်မှတစ်ပါး အခြားနည်းလမ်း မရှိတော့ပြီ။ ပီယာသည် လူမမာအနီးသို့လည်း မသွား

တော့။ ၎င်းကိုလှမ်း၍လည်း မကြည့်တော့ချေ။ တံခါးဝတွင် မျက်မှောင်ကြီး ကုတ်၍သာ ရပ်နေမိသည်။

တံခါးဖွင့်လိုက်၍ အပေါက်ဝတွင် အကျဉ်းသား များ သိုးအုပ်ကြီးပမာ တိုးဝှေ့ ထွက်လျက်ရှိစဉ် ပီယာသည် လူကြားထဲမှ အတင်းတိုးထွက်ကာ မိမိအတွက် အကူအညီ ပေးတတ်သူဟု တပ်ကြပ်က ပြောသွားဖူးသော ပြင်သစ် ဗိုလ်ကြီးထံသို့ လာခဲ့၏။ ဗိုလ်ကြီးမှာလည်း စစ်ချီဝတ်စုံကို ဝတ်ထား၏။ ၎င်း၏ အေးစက် တင်းမာသော မျက်နှာ ပေါ်တွင်လည်း တပ်ကြပ်၏ မျက်နှာနှင့် ဘင်ခရာသံများ၌ မြင်ရကြားရသော "ထိုအရာကို ပီယာ သတိပြုမိလေသည်။

"သွားကြ၊ သွားကြ။ မြန်မြန်သွားကြ" ဗိုလ်ကြီးက မိမိအနီးမှ ဖြတ်လျှောက် သွားကြသော အကျဉ်းသားများကို  မျက်မှောင်ကြီးကုတ်၍ သုန်မှုန်စွာ ဆို၏။

ပီယာသည် ထိုဗိုလ်ကြီးထံသို့ လျှောက်လာခဲ့သည်။ မျှော်လင့်ချက်ကား မရှိ လှချေ။

"ဘာလဲ" ထိုဗိုလ်ကြီးက ပီယာကို မှတ်မိခြင်း မရှိတော့ဟန် မျက်နှာထား တင်းတင်းဖြင့် မေးလိုက်သည်။

ပီယာက လူမမာ့အကြောင်းကို ပြောပြသည်။

"သူ့ဘာသာ သူလျှောက်မှာပေါ့၊ ခင်ဗျား ပူစရာ မလိုပါဘူး" ဗိုလ်ကြီးက ပြောလိုက်သည်။ "ဟေ့မြန်မြန် သွားကြလို့ ပြောနေတယ်" ဗိုလ်ကြီးက ပီယာကို မ ကြည့်ဘဲ အကျဉ်းသားများကို လှမ်းအော်လျက်ရှိ၏။

"လူမမာ အခြေအနေက တော်တော်ဆိုးနေတယ်" ဟု ပီယာက အကျိုးအကြောင်း ရှင်းပြရန် စကားဆက် လိုက်သည်။

“ါ လူ၊ သွားစမ်းဗျာ၊ ခင်ဗျားအလုပ်မဟုတ်” စစ်ဗိုလ်က စိတ်ဆိုးမာန်ဆိုးဖြင့် ပီယာကို အော်ထုတ် လိုက်သည်။

ဘင်ခရာသံများသည် အဆက်မပြတ် ထွက်ပေါ် လျက်ရှိ၏။ ယခုအချိန်၌ နားလည်ရခက်သော ထိုအင်အား စုသည် ၎င်းတို့ကို ချုပ်ကိုင်ထားလျက်ရှိလေပြီ။ နောက်ထပ် ပြောချ်လည်း ဘာမျှအရာရောက်ခြင်း မရှိနိုင်တော့ပြီဟု ပီယာယူဆမိသည်။

တပ်ဗိုလ်အကျဉ်းသားများကို ရိုးရိုးအကျဉ်းသား များနှင့် ခွဲထားကာ ရှေ့မှ ချီတက်စေ၏။ ပီယာအပါအဝင် တပ်ဗိုလ်အကျဉ်းသား သုံးဆယ်ခန့်ရှိ၍ စုစုပေါင်းဆိုလျှင် အကျဉ်းသား သုံးရာခန့်ရှိလေသည်။

အခြားတင်းကုပ်တစ်ခုမှ ထုတ်လာသော တပ်ဗိုလ် အကျဉ်းသားများမှာ ပီယာ့အဖို့ မျက်နှာစိမ်းများသာ ဖြစ်၏။ ၎င်းတို့အားလုံးမှာ ပီယာတို့ထက် ကောင်းကောင်း မွန်မွန် ဝတ်ဆင်ထားကြ၏။ ၎င်းတို့ကလည်း လူထူး လူဆန်းတစ်ယောက်သဖွယ် ပီယာကိုလည်းကောင်း၊ ခြေထောက်တွင် စီးထားသည့် ဖိနပ်ကိုလည်းကောင်း မသင်္ကာမကင်းသော အကြည့်ဖြင့် ကြည့်ကြ၏။ ပီယာနှင့် မလှမ်းမကမ်း၌ အသားဝါဝါ၊ မျက်နှာအစ်အစ်နှင့် သုန်မှုန် လျက်ရှိသော ဗိုလ်မှူးတစ်ယောက် ပါလာ၏။ ထိုအကျဉ်း သား ဗိုလ်မှူးသည် ကာဇန်နယ်ထွက် ဝတ်ရုံအင်္ကျီကြီး တစ်ထည်ကိုဝတ်ကာ ခါးတွင် မျက်နှာသုတ်ပဝါတစ်ထည် ကို စည်းထား၏။ ၎င်းနှင့်ဘဝတူ အကျဉ်းသားများ၏ လေးစားခြင်းခံရသည့်အတွက် ကျေနပ်နေဟန်လည်း ရှိလေ သည်။ ထိုဗိုလ်မှူးသည် ဆေးတံသောက်ဆေးတစ်အိတ် ကိုင်ထားသည့် လက်တစ်ဖက်ကို ဝတ်ရုံအင်္ကျီ ရင်ဘတ် အောက်သို့ လျှို၍ဝှက်ထားပြီး အခြားလက်တဖက်တွင် ဆေးတံရိုးကို ကျစ်ကျစ်ပါအောင် ဆုပ်ထား၏။ ၎င်းသည် နောက်က တိုးဝှေ့နေသည်ဟု ထင်သဖြင့် အသက်ပြင်းစွာ ရှူ

လျက်က ညည်းညူ ဆဲဆိုလျက် ရှိလေသည်။ ၎င်း၏ စိတ်၌ အကျဉ်းသား များသည် အလျှင်လိုစရာမရှိဘဲ အလျှင် လိုနေကြသည်ဟုလည်းကောင်း၊ အံ့သြ စရာမရှိဘဲ အံ့သြနေ ကြသည်ဟုလည်းကောင်း ထင်မှတ်လျက်ရှိပုံရ၏။ ပိန်ပိန် ပါး ပါးနှင့် အခြားတပ်ဗိုလ် အကျဉ်းသားတစ်ယောက်မှာမူ မိမိတို့အား မည်သည့်နေရာ သို့ ခေါ်သွားမည်ထင်ကြောင်း၊ ယနေ့ မည်မျှခရီးပေါက်မည် ထင်ကြောင်းတို့ကို လူ တွေ့ တိုင်း ပြောလျက်ရှိ၏။ ထောက်ပို့တပ်ဝတ်စုံကိုဝတ်၍ သက္ကလပ်ဖိနပ်ရှည် ကြီးကို စီးထားသည့် အခြားတပ်ဗိုလ် တစ်ယောက်မှာ ထိုဘက်မှ ဤဘက် ပြေးလွှားကာ ပျက်စီးလျက်ရှိသော မော်စကို မြို့ကြီးကို တအံ့တသြ ငေးမော ကြည့်ရှုလျက်ရှိရာမှ မည်သည့်အဆောက်အအုံမှာ မီးလောင်သွားကြောင်း၊ ယခု မိမိတို့ မြင်နေရသည်မှာ မည်သည့်ရပ်ကွက်ဖြစ်ကြောင်း စသည်တို့ကို ကျယ် လောင် စွာ ပြောဆိုလျက် ရှိလေသည်။ လေယူလေသိမ်းကို ထောက်၍ ပိုလန် လူမျိုးတစ်မျိုးဟု ယူဆရသော တတိယ တပ်ဗိုလ်တစ်ယောက်ကမူ ယခုမြင်ရ သော ရပ်ကွက်များမှာ ထောက်ပို့တပ်ဗိုလ်ပြောသော ရပ်ကွက်များမဟုတ် ကြောင်း ဖြင့် ငြင်းခုံလျက်ရှိ၏။

"ဘာ သောက်စကားများနေကြတာလဲဗျ" အကျဉ်းသားဗိုလ်မှူးက လှမ်း အော်လိုက်သည်။ "ဘယ် ရပ်ကွက်ဖြစ်တော့ကော ဘာထူးဦးမှာလဲ။ တစ်မြို့လုံး မီးလောင်ထားမှပဲ။ ဟော့ နောက်က ဘာဖြစ်လို့ ဒီလောက် တောင် တိုးနေရတာလဲ။ လမ်းအကျယ်ကြီး မမြင်ဘူးလား" ဟု မိမိအား လုံးဝတိုးဝှေ့ခြင်းမပြုသော လူတစ် ယောက်ကို မာန်လိုက်သည်။

"ဟာ၊ ရက်စက်တယ်ကွာ" တစ်ဖက်မှာ အကျဉ်း သားများသည် မီးလောင် ကျွမ်းထားသော အပျက်အစီး များကိုကြည့်၍ တအံ့တသြ ဖြစ်နေကြသည်။ "မြစ် ဟိုဘက်  မှာရော ဒူဘိုဗာရပ်ကွက်မှာရော၊ ကရင်မလင်မြို့ရိုးထဲမှာရော ကြည့်

စမ်း။ ဘာမှမကျန်တော့ဘူး။ အေးလေ၊ ဟိုမှာ မမြင်ဘူးလား။ မြစ်ဟိုဘက်ကလဲ တစ်ရပ်ကွက်လုံးပါသွား တယ်လို့ ပြောနေရက်သားနဲ့”

“ဟော့၊ မီးလောင်သွားမှန်းသိရက်နဲ့ ဘာလို့ သောက်စကားများနေကြတာလဲ ကွ” အကျဉ်းသား ဗိုလ်မှူး က အော်လိုက်ပြန်သည်။

ခါမိုနိုကီရပ်ကွက်ရှိ သုဓမ္မာဇရပ်တစ်ဆောင် အနီးမှ ဖြတ်သန်းလာကြသောအခါ၌ (၎င်းရပ်ကွက်မှာ မီးမလောင် ဘဲ ကျန်သော ရပ်ကွက်အနည်းငယ် အနက်တစ်ခုဖြစ်သည်) အကျဉ်းသားထုကြီးတစ်ခုလုံးသည် လမ်းတစ်ဖက်သို့ ( လှမ်းကြည့်ရာမှ ကြောက်လန့်တကြားဖြစ်သံ၊ စက်ဆုပ် ရွံရှာခြင်း ဖြစ်သံတို့ ပေါ်ထွက်လာ၏။

“အယုတ်တမာတွေ၊ ကြည့်စမ်း။ သတ်ပစ်ပြီး မျက်နှာကို ဘာတွေ သုတ်ထားမှန်းမသိဘူး”

ပီယာသည် သုဓမ္မာဇရပ်အနီးသို့ကပ်ကာ ၎င်းတိ ပြောသောအရာကို လှမ်းကြည့်လိုက်၏။ သုဓမ္မာဇရပ် ခြံဝင်းသစ်သားတန်းကို မှီလျက်ရှိသော အရာတစ်ခုကို ခပ်ဝါးဝါး မြင်ရ၏။ မိမိထက် သဲကွဲစွာ မြင်ရသူများ၏ စကားအရ ထိုအရာမှာ သစ်သားခြံဝင်းကိုမှီ၍ ထောင်ထား သော လူသေအလောင်းတစ်လောင်းဖြစ်၍ မျက်နှာတွင် အိုးမည်းများ သုတ်ထားလျက်ရှိကြောင်း သိရသည်။

“ဟော့၊ အမေပေးတွေ။ ဘာလို့ ရပ်နေတာလဲ။ သွား၊ မြန်မြန်သွား။ မင်းတို့ နောက်မှာ လူသုံးသောင်း ရှိသေးတယ်” အစောင့်တပ်သားများက အော်ဟစ်ကြ၏။

ပြင်သစ်တပ်သားများသည် လူသေအလောင်းကို ရပ်ကြည့် နေကြသော အကျဉ်းသားများကို ဓားရှည်များဖြင့် ရိုက်၍ မောင်းထုတ်လျက်ရှိလေသည်။

# အခန်း ၁၄

အကျဉ်းသားများသည် ခါမိုနီကီရပ်ကွက် လမ်းကြားများ ကိုဖြတ်၍ ချီတက်လာခဲ့ကြ၏။ ၎င်းတို့နောက်မှ အစောင့် တပ်များနှင့် ၎င်းတို့၏ ယာဉ်ရထားများ၊ ဝန်တင်လှည်းများ လိုက်ပါလာကြလေသည်။ သို့ရာတွင် ကုန်လှောင်ရုံများ အနီးသို့ ရောက်သောအခါ၌ ၎င်းတို့သည် ပြည့်ကျပ်၊ နေသော အမြောက်တင် ရထားများ၊ ကိုယ်ပိုင် ယာဉ်ရထား များနှင့် ရောထွေးကာ ညှပ်ပူးညှပ်ပိတ်ဖြစ်လျက် ရှိကြ၏။

တံတားထိပ်သို့ ရောက်သော် ရှေ့မှလူများ၊ ယာဉ်များ ဖြတ်သန်းနေသည့်အတွက် ရပ်စောင့်နေကြရ သည်။ တံတားထိပ်မှ ကြည့်လျှင် ၎င်းတို့၏ရှေ့နှင့်နောက် တွင် တအိအိသွားနေကြသော အဆုံးမရှိသည့် ဝန်တင် လှည်းတန်းကြီးကို တမျှော်တခေါ်ကြီး မြင်ရ၏။ နက်စကူနီ ရပ်ကွက် ကလူဂါဘက်သို့ ထွက်သော ပေတစ်ရာ လမ်းထိပ်တွင်မူ အဆုံးမရှိသော စစ်သားတန်ကြီးများနှင့် လှည်းတန်းကြီးကို မြင်ရပြန်သည်။ ၎င်းတို့ကား အခြား တပ်များထက် အစောဆုံးထွက်သွားသော ပြင်သစ်ဗိုလ်ချုပ် ဗျူဟာနေး၏ တပ်ဖွဲ့များဖြစ်လေသည်။ ၎င်းတို့နောက် မြစ်ကမ်းဘေးနှင့် ကျောက်တံတားတစ်ဝိုက်ရှိ တပ်များမှာ ပြင်သစ်ဗိုလ်ချုပ် နေးလ်၏ တပ်များနှင့် ပို့ဆောင်ရေး ယာဉ်များ ဖြစ်လေသည်။ ။

အကျဉ်းသားများကို တာဝန်ယူရွှေ့ပြောင်းလာခဲ့ သည့် ဗိုလ်ချုပ်ဒါဗောက်၏ တပ်များမှာ ကရိုင်းမီးယား တံတားကို ဖြတ်လျက်ရှိကြ၍ အချို့မှာ ကာလူဂါသို့ ထွက်သော ပေတစ်ရာလမ်းမကြီးဘက်သို့ ကွေ့ဝင်လာ လျက် ရှိကြလေပြီ။ သို့ရာတွင် ဝန်တင်လှည်းတန်းကြီးမှာ ရှည်လျားလှသည့်အတွက် ဗိုလ်ချုပ်နေးလ်၏တပ်ဦး အိုဒင် ကာ လမ်းထိပ်သို့ ပေါ်လာသည့်တိုင် ဗိုလ်ချုပ် ဗျူဟာနေ၏တပ်မှ ဝန်တင်လှည်းတန်းများသည် မော်စကိုမြို့ပြင်သို့ မရောက်ကြသေးချေ။

အကျဉ်းသားများသည် ကရိုင်းမီးယားတံတားကို ကျော်ဖြတ်ပြီး မလှမ်းမကမ်းတွင် ရပ်လိုက်ကြ၏။ နောက် တရွေ့ရွေ့ လျှောက်လာခဲ့ကြပြန်သည်။ ဘေးတစ်ဖက် တစ်ချက်မှ ဝန်တင်လှည်းတန်းများနှင့် စစ်တပ်များမှာ ပို၍ ပြွတ်သိပ်ထူထပ်လာခဲ့လေပြီ။ ၎င်းတို့သည် ကရိုင်း မီးယားတံတားနှင့် ခြေလှမ်းတစ်ရာခန့်အကွာ ကလူဂါ ပေတစ်ရာကြီး၏ အနီးသို့ ချီတက်လာခဲ့ကြ၏။ ထိုခြေလှမ်း တစ်ရာခန့်အကွာသို့ရောက်အောင် တစ်နာရီမျှ တိုးဝှေ့ ချီတက်ခဲ့ရခြင်းဖြစ်သည်။ ထိုနောက်၌ ထရန်ဖော်စကာဗာ လမ်းနှင့် ကာလုဂါပေတစ်ရာလမ်းမကြီးဆုံရာ ကွက်လပ်သို့ ရောက်ရှိလာခဲ့ကြပြီးနောက်၌ လမ်းပိတ်လျက်ရှိခြင်းကြောင့် ထိုလမ်းဆုံတွင် နာရီအတန်ကြာမျှ စောင့်ဆိုင်းနေကြ ရသည်။ ပတ်ဝန်းကျင်တစ်ဝိုက်ရှိ ရထားဘီးသံများ၊ ခြေ သံများ၊ အော်ဟစ်ဆဲဆိုသံများသည် သောသောညံလျက် ရှိလေရာ ထိုအသံများသည် ပင်လယ်၏ အော်မြည်သံကဲ့သို့ ဆူညံလျက်ရှိလေသည်။ ပီယာသည် မီးလောင်ကျွမ်း ထားသော အိမ်တစ်ဆောင်၏နံရံတွင် ညပ်ကာ မှီ၍ ရပ်လျက်ရှိရင်း ထိုအသံများကို နားထောင်မိ၏။ ထိုအသံ များသည် ၎င်း၏စိတ်၌ ဘင်ခရာသံများနှင့် ရောထွေးလျက် ရှိလေသည်။ ။

အချို့အရာရှိ အကျဉ်းသားများကား ကောင်းစွာ မြင်နိုင်ရန် ပီယာ မှီရပ်လျက်ရှိရာ တစ်ဝက်တစ်ပျက် လောင်ကျွမ်းထားသည့် အိမ်နံရံပေါ်သို့ တက်လျက်ရှိကြ၏။

"ကြည့်စမ်းဗျာ။ လူတွေ လူတွေ နည်းတာ မဟုတ်ဘူး။ အံမယ် အမြောက်ကြီးတွေပေါ်မှာတောင် ပစ္စည်းတွေ တင်လာသေးသဗျ ကြည့်စမ်း။ ဟိုမှာ သားမွေးတွေ မဟုတ်လား"ဟု အချို့က ဆိုကြ၏။ "မအေပေးတွေ၊ အကုန်လုယူလာတာပဲ။ ဟိုနောက်က လှည်းပေါ်က ဟာတွေက ဘာတွေလဲဗျ။ ဟာ ဘုရားစင်က ဆွဲဖြုတ်

လာတဲ့ ကန့်လန့်ကာတွေဒါ့။ တော်တော် မိုက်ရိုင်း တဲ့ကောင်တွေဗျာ။ ဟိုမှာ ဟိုမှာ၊ ကောင်တစ်ကောင် ပစ္စည်းတွေ တစ်ထမ်းကြီး သယ်လာလိုက်တာ။ ခွေး သား ကောင်းကောင်းတောင် မလျှောက်နိုင်တော့ဘူး။ ဟာ ကရထားကြီးတွေကို လဲ လုလာသဗျို့။ အံမယ် ဟိုခွေးသား ဟာ သေတ္တာကြီးပေါ်မှာ မြိန့်မိန့်ကြီးထိုင် လို့။ ဟာ အချင်းချင်း ဆော်ကုန်ပြီ၊ ဆော်ကုန်ပြီ”

“ဟော ဟော၊ ဟိုကောင် နှာနုထိသွားပြီ။ ဒီပုံ နဲ့တော့ ဒီနေ့ညတောင် မော်စ ကိုမြို့ထဲက ထွက်ရပါဦး မလားမသိဘူး။ ကြည့်စမ်း၊ ကြည့်စမ်း။ ဟိုပစ္စည်းတွေက နပိုလီယန်ရဲ့ ပစ္စည်းတွေထင်တယ်။ တောက်။ ကောင်းလိုက် တဲ့မြင်းကြီးတွေ။ အလို ပြင်သစ်စာလုံးပုံကြီးပေါ်မှာ သရဖူ ကြီးတင်လို့ဗျ။ အိမ်ကြီးတစ်ဆောင်လုံး မ ရွှေ့လာသလား” အောက်မေ့ရတယ်။ ဟာ ဆော်ကုန်ကြပြန်ပြီ။ ဟော့၊ ဟိုမှာ ကလေးလေးနဲ့ မိန်းမတစ်ယောက်မဟုတ်လား။ အံမယ် မဆိုးဘူးဗျ။ တော်တော် ဖြောင့်တယ်။ ဒီအတိုင်းသာ ဆိုရင်တော့ ဘယ်လောက်ကြာကြာ လမ်းပိတ်နေဦး မယ် မသိဘူး။

“ဟင်၊ နောက်ထပ် လှည်းတန်းကြီးလာပြန်ပြီ။

ဟာ၊ ရုရှားဖာသယ်တွေလဲ မနည်းဘူးဟ။ အံမယ် ကရထားကြီးတွေထဲမှာ ဇိမ်နဲ့ ထိုင်လိုက်လာလိုက်ကြတာ”

ခါမိုနီကီရပ်ကွက် သုခမ္မာဇရပ် အနီးတုန်းကကဲ့သို့ ဤနေရာတွင်လည်း အကျဉ်းသားများသည် အထူးအဆန်း တစ်စုံတစ်ခု တွေ့သည်နှယ် ရှေ့တွင် ပြုံတိုး ကာ တစ်စုံ တစ်ရာကို လှမ်းကြည့်လျက်ရှိ၏။ ပီယာမှာ အရပ်အမောင်း ကောင်းသူ ဖြစ်သည့်အတွက် ၎င်းတို့ အထူးအဆန်း လှမ်းကြည့်နေသည့်အရာကို ကောင်းစွာ မြင်ရလေသည်။ ယင်းကား အခြားမဟုတ်။ ခဲယမ်းမီးကျောက်တင် လှည်း များ အကြားတွင် ညပ်နေသော ကရထားကြီးသုံးစီးပေါ်၌ မျက်နှာတွင် မျက်နှာချေအ

ဖွေးသား အဝတ်အစား ဖြိုးဖြိုး ပြောင်ပြောင်ဖြင့် မိန်းမအချို့ လိုက်ပါလာကြကာ အသံစူးစူး ဖြင့် အော်ဟစ်လျက်ရှိခြင်းပင် ဖြစ်၏။

ပီယာသည် လျှို့ဝှက်ခက်ခဲသော အင်အားစုကို နားလည်သဘောပေါက်ခဲ့ပြီး သည့်နောက်မှစ၍ ၎င်းအဖို့ မြင်မြင်သမျှသည် အထူးအဆန်း မဟုတ်တော့ချေ။

ကြောက်စရာ မဟုတ်တော့ချေ။ တစ်ယောက်ယောက် လက်ကမြင်းသွား သဖြင့် မျက်နှာတွင် အိုးမည်းတွေ ပေကျံ နေသော အလောင်းကောင်သည် လည်းကောင်း၊ ထိုမိန်းမ များသည် လည်းကောင်း၊ မီးလောင်ပျက်စီးလျက်ရှိသော မော်စကိုမြို့သည်လည်းကောင်း ပီယာ့အဖို့ ကြောက်လန့် စရာမဟုတ်တော့ချေ။ အံ့သြစရာမဟုတ်တော့ချေ။ ယခု အချိန်၌ ပီယာမြင်မြင်သမျှအရာတို့သည် ၎င်း၏ စိတ်တွင် အမှတ်ထင်ထင်ဖြစ်အောင် မတတ်နိုင်ကြတော့ပြီ။ ပြင်းထန် ခက်ခဲသော အရာကြီးတစ်ခုအတွက် အဆင်သင့် ဖြစ်လျက် ရှိသော ၎င်း၏ ဉာဉ်သည် ၎င်း အား အားနည်းစေမည့် ထင်ဟပ်ချက်များကို လက်ခံရန် ငြင်းဆန်လျက် ရှိလေ သလောဟုပင် ထင်ရတော့သည်။ ။

မိန်းမများ စီးနင်းလိုက်ပါသည့် ရထားများသည် ၎င်းတို့အနီးမှ ဖြတ်သန်း သွားကြ၏။ ထို့နောက်တွင် ဝန်တင်လှည်းများ၊ စစ်သားများ၊ ကရထားများ၊ စစ်သား များ၊ အမြောက်ရထားများ၊ ကရထားများ၊ စစ်သားများ၊ ခဲယမ်းမီးကျောက် လှည်းများ၊ စစ်သားများ၊ ၎င်းတို့အထဲ၌ ကြိုးကြားကြိုးကြား မိန်းမများ စသည်တို့ ပါလာကြ၏။

ပီယာသည် ဤသူများကို လူအဖြစ် မမြင်တော့ဘဲ လှုပ်ရှားမှုကြီးတစ်ရပ် အဖြစ်သာ မြင်တော့သည်။ ဤသူများနှင့် ဤမြင်းများသည် မြင်နိုင်စွမ်း မရှိသော တန်ခိုးတစ်ခု၏ မောင်းနှင်မှုဖြင့် ရှေ့တူရှုသို့ သွားလျက်ရှိကြသည်ဟု ပီယာထင် မိ၏။ ပီယာ စောင့်ကြည့် လျက်ရှိသည့် တစ်ချိန်လုံး၌ ၎င်းတို့သည် လျင်မြန်နိုင်

သမျှ လျှင်မြန်စွာ ရောက်လိုဇောဖြင့် လမ်းအသွယ်သွယ်မှ စီး ထွက်လာကြ၏။ ၎င်းတို့သည် တစ်ဦးကိုတစ်ဦး တိုးဝှေ့ ခြင်းပြုကြ၏။ စိတ်ဆိုးမာန်ဆိုးဖြင့် သတ်ပုတ်ခြင်း ပြုကြ ၏။ သွားများကို ဖြဲပြလျက် နဖူးကြီးတွေ ရှုံ့တွလျက် ရှိကြ၏။ ပြောင်းလဲခြင်းမရှိသော ဆဲရေးတိုင်းထွာသံ များသည် တစ်ဖက်မှ တစ်ဖက်သို့ အပြန်အလှန် စီးဆင်း သွားကြ၏။ ၎င်းတို့၏ မျက်နှာများ အားလုံးပေါ်၌ နံနက်က တပ်ကြပ်၏ မျက်နှာပေါ်တွင် ပီယာ တွေ့မြင်ခဲ့ရ သော မောက်မာဝင့်ကြွား၍ ကြမ်းကြုတ် ရက်စက်သော အမူအရာသည် ပေါ်လွင်လျက်ရှိ၏။

ညနေကျမှ အကျဉ်းသားများကို စောင့်ကြပ်လိုက် ပါလာသော အစောင့်တပ်တပ်မှူးသည် ၎င်း၏လူများကို စုကာ အော်ဟစ်ဆဲဆိုရင်း ဝန်တင်လှည်းများကြားမှ တိုး ထွက်ခဲ့ရသည်။ အဘက်ဘက်မှ ညှပ်ပိတ်ခံနေရသော အကျဉ်းသားများသည် ထိုအခါကျမှ ကာလုဂါပေတစ်ရာ လမ်းမကြီးပေါ်သို့ ရောက်ရှိလာခဲ့ကြလေသည်။

၎င်းတို့သည် တစ်ထောက်မျှ ရပ်နားခြင်းမရှိဘဲ အလျင်အမြန် ချီတက်ခဲ့ကြပြီးနောက် မိုးစုပ်စုပ်ချုပ်သည့် အခါကျမှ ရပ်နားကြသည်။ ဝန်တင်လှည်းများသည် တစ်နေရာတွင် စုရပ်ကာ စစ်သားများသည် ညစခန်း ရပ်နားရန် ပြင်ဆင်ကြ၏။ ၎င်းတို့အားလုံးသည် စိတ်တို လျက်ရှိကာ မကျေမနပ်ဖြစ်လျက်ရှိကြ၏။ ကျိန်ဆဲသံများ၊ အော်ဟစ်သံများ၊ ရန်ဖြစ်သံများသည် အချိန်အတန်ကြာမျှ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဆူညံလျက်ရှိကြသည်။ အစောင့် လိုက်ပါလာသော ရထားတစ်စင်းက လှည်းတစ်စင်းကို ဝင်တိုက်မိသဖြင့် ရထားနှင့်ဝင်ရိုး ငြိကာ လှည်းနံရံတွင် အပေါက်ဟောင်းလောင်းကြီး ဖြစ်သွား၏။ စစ်သားများ သည် လှည်းဆီသို့ ပြေးလာကြသည်။ တချို့က ရထားမြင်း များကို တဗုန်းဗုန်း ရိုက်ကြ၏။ တဖန်အချင်းချင်း သတ် ပုတ်ကြပြန်သည်။ ဂျာမန်တစ်ယောက်မှာ မည်သူ့ လက် ချက်ကြောင့်မသိ။ ခေါင်းတွင် ဓားခုတ်ခံလိုက်ရခြင်းကို ပီယာ မြင်လိုက်ရသည်။

ဆောင်းဦးပေါက်၏ အေးမြသော ဆည်းဆာည ချမ်းတွင် ကွင်းပြင်ကြီးများ ထဲ၌ ရပ်နားလျက်ရှိသော ၎င်းတို့အားလုံးသည် ၎င်းတို့အား ခရီးအစတွင် ချုပ်ကိုင် လွှမ်းမိုးခဲ့သော မြန်မြန်ရောက်လိုဇောဖြင့် ဂနာမငြိမ်နိုင် ကြဘဲ တလှုပ်လှုပ်တရွရွ ဖြစ်လျက်ရှိကြ၏။ ရပ်နားသည့် အခါတိုင်းလည်း မိမိတို့ ဘယ်ဆီဘယ်စခန်းသို့ ဆိုက် ရောက်ကြဦးမည်နည်းဟူသော အချက်ကိုလည်းကောင်း၊ လမ်းခရီးတွင် ခက်ခဲနာကျင်သော အရာများကို တွေ့ရ ဦးမည်ဆိုသော အချက်ကိုလည်းကောင်း အလိုလို နားလည် နေကြဟန် ရှိလေသည်။ ။

စခန်းချ ရပ်နားစဉ်၌ကား အစောင့်များက အကျဉ်း သားများကို ဆက်ဆံပုံ မှာ ခရီးထွက်ခါစကထက်ပင် ဆိုး တံသေးသည်။ အကျဉ်းသားများသည် အသား ပုံစံအဖြစ် မြင်းသားကို ပထမဆုံး ရရှိကြသည်။

ပြင်သစ်များသည် ယခင်က အကျဉ်းသားများအား ဖော်ဖော်ရွေရွေ ဆက်ဆံ ခြင်း ပြုခဲ့ကြသော်လည်း ယခုမူ အရာရှိမှ တပ်သားအထိ အား" သာ အကျဉ်းသား များကို ပုဂ္ဂိုလ်ရေး ရန်သူကြီးများသဖွယ် ဆက်ဆံခြင်း ပြုကြ လေသည်။

ထိုနေ့ညနေ လူစစ်၍ မော်စကိုမှအထွက် ရုတ်ရုတ် သဲသဲဖြစ်နေသည့်အချိန် တွင် ရှူးသွပ်ဟန်ဆောင်နေသည့် ရုရှားစစ်သားတစ်ယောက် ထွက်ပြေးကြောင်းကို သိရသည့် အခါ၌ကား ၎င်းတို့၏ ဆက်ဆံပုံမှာ ပို၍ ဆိုးရွားလာခဲ့ လေပြီ။ ပေတစ်ရာလမ်းမကြီးမှ ဝေးဝေးသို့ ထွက်သွား ရမည်လောဟု ဆိုကာ ပြင်သစ် စစ်သားတစ်ယောက်က ရုရှားအကျဉ်းသားတစ်ယောက်အား ရက်စက်စွာ ရိုက် နှက် နေခြင်းကို ပီယာမြင်ရ၏။ ၎င်း၏အသိ ပြင်သစ်ဗိုလ်ကြီး သည် အကျဉ်းသား ထွက်ပြေးသည့်အတွက် အရာခံ ဗိုလ် လေးတစ်ဦးကို စစ်ခုံရုံးတင်မည်ဟု ခြိမ်းခြောက် မောင်းမဲ နေခြင်းကိုလည်း ပီယာကြားလိုက်ရသည်။ အကျဉ်းသားမှာ မကျန်းမမာဖြစ်လျက်ရှိကြောင်းဖြင့် အရာခံဗိုလ်က ပြန်ပြော ပြသည့်အခါ၌ မ

လိုက်နိုင်သူများကို ပစ်သတ်ရမည်ဟု အမိန့်ထုတ်ထားကြောင်းဖြင့် ပီယာအသိ ဗိုလ်ကြီးက ပြန် ပြောလျက်ရှိသည်။ မိမိအား လူသတ်ကုန်းတွင် ဆုပ်ကိုင် ခြေမွပစ်ခဲ့သော ထို"မရဏအင်အားစုသည် အကျဉ်းထောင် ထဲတွင် ပျောက်ကွယ်နေခဲ့သော်လည်း ယခု မိမိ၏ဘဝကို စိုးမိုးချုပ်ကိုင်လျက်ရှိပြန်ပြီဟု ပီယာ အောက်မေ့မိသည်။ ထိုအင်အားစုသည် ကြောက်ဖွယ်ကောင်းသည်မှာ မှန်ပါသည်။ သို့ရာတွင် မိမိအား ခြေမွပစ်ရန် ကြိုးစား လျက်ရှိသော ထိုအင်အားစုထက် ပို၍ အားကောင်းသော "ဘဝအင်အားစု"သည် မိမိ၏ဝိညာဉ်ထဲတွင် ကြီးထွားလျက် ရှိခြင်းကိုလည်း ပီယာ သတိပြုမိသည်။

ပီယာသည် ဂျုံစေ့ပြုတ်ရည်၊ မြင်းသားပြုတ်တို့ဖြင့် ညစာစားပြီးနောက် ၎င်း၏ရဲဘော်များနှင့် စကားပြောလျက် ရှိလေသည်။

မော်စကိုမြို့တွင် မြင်ခဲ့ရသော အခြင်းအရာများကို သော်လည်းကောင်း၊ မိမိတို့အပေါ်တွင် ပြင်သစ်တို့က ရိုင်းပြစွာ ဆက်ဆံပုံကိုလည်းကောင်း၊ မိမိတို့အား ပစ်သတ် ရန် အမိန့်ထုတ်ထားခြင်းကိုသော်လည်းကောင်း မည်သူ ကမျှ ပြောဆိုခြင်းမပြုကြချေ။ ဆိုးရွားလျက်ရှိသော မိမိ တို့၏ အခြေအနေကို ပြန်လည်တုံ့ပြန် တွန်းကန်လျက် ရှိသည့်နှယ် ၎င်းတို့အားလုံးသည် အထူးရွှင်ပျ ထက်သန် လျက်ရှိကြလေသည်။ ၎င်းတို့အားလုံးသည် ရှေးဟောင်း နှောင်းဖြစ် ကိုယ်တွေ့များကို ပြန်ပြောကြ၏။ စစ်ပွဲတွင်း ကြုံတွေ့ခဲ့ရသော ရယ်စရာအဖြစ်အပျက်များကို ပြန်ပြော ကြ၏။ လက်ရှိအခြေအနေနှင့် စပ်လျဉ်း၍ကား တစ်ခွန်းမျှ ပြောဆိုခြင်း မပြုကြချေ။

နေဝင်သွားသည်မှာ အတော်ကြာခဲ့လေပြီ။ ကောင်း ကင်တစ်ခိုတွင် တောက်ပသော ကြယ်ပွင့်များသည် တရွှန်း ရွှန်း လက်လျက်ရှိကြ၏။ လပြည့်ဝန်း၏ အရောင်ကြောင့် အရှေ့ကောင်းကင်တစ်ခွင်သည် မီးလောင်သည့်

ပမာ နီရဲ လျက်ရှိ၏။ မကြာမီမှာပင် နီရဲသော လဝန်းသည် မှိုင်း ပြာသော နှင်းမြူ တို့အကြားတွင် တငြိမ့်ငြိမ့် ထွက်ပေါ် လာလေသည်။ ညနေဆည်းဆာ ကုန်ဆုံးပြီ ဖြစ်သော်လည်း ညချမ်းသို့ မရောက်တတ်သေးချေ။ ပီယာသည် မိမိရဲဘော် များ အနီးမှ ထလာခဲ့ကာ စခန်း မီးပုံများကြားမှဖြတ်၍ ပေတစ်ရာလမ်းတစ်ဖက်သို့ ကူး လာခဲ့သည်။ ထိုတစ်ဝိုက် တွင် ရိုးရိုးအကျဉ်းသားများ ရှိသည်ဟု ကြားရ၏။ ပီယာ ' သည် ၎င်းတို့နှင့် စကားစမြည် ပြောလိုပေသည်။ ပေတစ်ရာ လမ်းပေါ်အရောက် တွင် ပြင်သစ်အစောင့်တစ်ဦးနှင့်တွေ့၍ ပီယာအား ကိုယ့်နေရာကိုယ် ပြန်သွားရန် အမိန့်ပေးခြင်းပြု လေသည်။

ပီယာသည် ပြန်လှည့်လာခဲ့၏။ သို့ရာတွင် ၎င်း၏ ရဲဘော်များဆီသို့ ပြန်မ သွားတော့ဘဲ မြင်းဖြုတ်ထားသည့် လှည်းတစ်စီးအနီးသို့ လာခဲ့သည်။ ထိုအနီး တစ်ဝိုက်တွင် လူသူရှင်းလျက်ရှိပေသည်။ ပီယာသည် လှည်းဘီးအနီး စိုစွတ်သော မြေကြီးပေါ်တွင် မလှုပ်မရှား တင်ပျဉ်ခွေထိုင် ရင်း ခေါင်းငိုက်စိုက်ဖြင့် အချိန် အတော်ကြာမျှ တွေးလျက် ရှိ၏။ ထို့နောက် ရုတ်တရက် ကျယ်လောင်စွာ အားရပါးရ ရယ်ချလိုက်သည်။ ၎င်း၏ရယ်သံကြောင့် ခပ်လှမ်းလှမ်းမှ လူများသည် လှမ်းကြည့်လိုက်ကြ၏။ ၎င်းတို့သည် ထူး ဆန်းကြယ်လောင်သော ရယ်သံကို နား မလည်နိုင်ဘဲ ဖြစ် လျက်ရှိကြသည်။

"ဟား ဟား ဟား ဟား"

ပီယာသည် အားပါးတရ ရယ်လျက်ရှိ၏။ ထို့နောက် တစ်ယောက်တည်း ကျယ်လောင်စွာ စကား ပြောလျက် ရှိလေသည်။

"ငါ့ကို ပေတစ်ရာဟိုဘက် မသွားရဘူးလို့ တား တယ်။ ငါ့ကိုဖမ်းပြီး လှောင် ထားတယ်။ ငါ့ကို အကျဉ်းချ ထားတယ်။ ငါဟာ ဘယ်သူလဲ။ ဘယ်မှာလဲ။ ဟော့၊ ငါ

ဆိုတာ ဝိညာဉ်ကွ၊ ငါ့ဝိညာဉ်ကွ၊ မသေနိုင်တဲ့ငါ့ဝိညာဉ်ကွ။ သိရဲ့လား။ ဟား ဟား ဟား ဟား”

ပီယာသည် မျက်ရည်ထွက်သည်အထိ ရယ်၏။ . လူတစ်ယောက် ထလာ၍ ဤထူးဆန်းသော အလုံးအဖန်ထွားထွားသတ္တဝါသည် အဘယ်ကြောင့် တစ်ယောက်တည်း ရယ်မောလျက်ရှိသနည်းဟု ကြည့်ရှု လျက်ရှိသည်။ ပီယာ သည် အားရပါးရ ရယ်ပြီးနောက် အရယ်ရပ်ကာ စပ်စုသော ထိုလူအနီးမှ ဝေးရာသို့ ထ လာခဲ့ပြီး ဘေးပတ်ဝန်းကျင်ကို လှမ်းကြည့်မိသည်။

မီးပုံများမှ မီးဝါးသံများ၊ စကားပြောသံများဖြင့် အုတ်အုတ်ကျက်ကျက် ဖြစ် လျက်ရှိသော အဆုံးအစ မရှိ သည့် ကွင်းစခန်းကြီးသည် တိတ်ဆိတ်သွားခဲ့လေပြီ။ နီရဲသော မီးပုံများသည် ဖျော့တော့ကာ ငြိမ်းစ ပြုကြလေပြီ။ လပြည့်ဝန်းသည် ကောင်းကင်ထက်၌ တွဲလွဲဆိုင်းလျက် ရှိ၏။ ယခင်က သဲကွဲစွာ မမြင်ခဲ့ရသော စခန်းတစ်ဖက်မှ တောအုပ်များ၊ လယ်ကွင်းများကို မြင်ရလေပြီ။ ထိုတောအုပ် များ နှင့် လယ်ကွင်းများအလွန်၌ တောက်ပသော၊ ဝင်းလက် သော၊ အဆုံးမရှိသော လဟာပြင်ကြီးသည် “မိမိထံလာ  လှည့်”ဟု ဖိတ်ခေါ်နေသကဲ့သို့ရှိ၏။ ပီယာသည် နက်ရှိုင်း သော မိုးပြင်ထက်မှ မိုတ်တုတ်မိုတ်တုတ် ကြယ်ပွင့်များ နှင့် မိုးကောင်းကင်ကြီးကို မော်ကြည့်မိသည်။

“ဟုတ်တယ်၊ ဒါတွေအားလုံးဟာ ငါပဲ။ ဒါတွေ အားလုံးဟာ ငါ့ရင်ထဲမှာ၊ ငါ့ ဝိညာဉ်ထဲမှာ ရှိတယ်”ဟု ပီယာတွေး၏။ “ဒါတွေအားလုံးကို ဖမ်းဆီးပြီး တဲ တစ်လုံး ထဲမှာ လှောင်ပိတ်ထားတော့ကော ဖြစ်ရောတဲ့လား”

ပီယာသည် ပြုံး၏။ ထို့နောက် လျှောက်လာခဲ့ကာ ၎င်း၏ရဲဘော်များဘေး တွင် လှဲအိပ်ချလိုက်လေသည်။

# အခန်း ၁၅

အောက်တိုဘာလဆန်းစ၌ နပိုလီယန်ထံမှ ငြိမ်းချမ်းရေး ဆွေးနွေးရန် အဆိုပြုချက်ပါသော စာချွန်တစ်စောင်ကို ယူဆောင်လာသည့် အခြား စေတမန် တစ်ဦး စစ်သေနာပတိ ချုပ် ကူတူဇောဗ်ထံ ရောက်ရှိလာပြန်လေသည်။ နပိုလီ ယန် သည် စစ်သေနာပတိချုပ် ကူတူဇော့ဗ်နှင့် မလှမ်းမကမ်း ကာဂါ ပေတစ်ရာလမ်းဟောင်းပေါ်တွင် ရောက်ရှိနေပြီ ဖြစ်သော်လည်း မော်စကိုနေ့စွဲဖြင့် ရက်စွဲလွဲတပ်ထား၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကလည်း ယခင်မြို့စားကြီး လောရစ္စတန် ယူဆောင်လာသည့် စာချွန်ကို ပြန်ကြား သကဲ့သို့ပင် "ငြိမ်းချမ်း ရေးဆွေးနွေးရန် ပြဿနာ မပေါ်"ဟု အကြောင်းပြန်ကြားလိုက်သည်။ ။

ထို့နောက် မကြာမီတွင် တာရူတီနို၏ လက်ဝဲဘက် တွင် လှုပ်ရှားလျက်ရှိ သော ဗိုလ်ချုပ် ဒိုရိုကော့ဗ်၏ ပြောက်ကျားတပ်ဖွဲ့ မှ သတင်းပေးပို့ချက်တစ်ခု ရောက်ရှိ လာခဲ့လေသည်။ ပြင်သစ်ဗိုလ်ချုပ် ဘရိုးစီးယား၏ တပ်မကြီးမှ တပ်များ ကို ဖိုးမင့်ဒေသတွင် တွေ့မြင်လိုက် ရကြောင်း၊ ၎င်းမှာ မဏ္ဍိုင်ပြင်သစ် စစ်တပ်ကြီး နှင့် ကွဲ လျက်ရှိသည့်အလျောက် အလွယ်တကူ ချေမှုန်းနိုင်ဖွယ် ရာရှိကြောင်းဖြင့် ထိုသတင်းပို့ချက်တွင် ပါရှိ၏။ တပ်ဗိုလ် များနှင့် တပ်သားများက တိုက်စစ်ဆင်နွဲ ရန် တောင်းဆိုခြင်း ပြုကြပြန်သည်။ တာရူတီနိုတွင် လွယ်လွယ်နှင့် အောင်ပွဲရ ခဲ့ ခြင်းကြောင့် သွေးကြွလျက်ရှိသော စစ်ဦးစီးဌာန ဗိုလ်ချုပ် များကလည်း ဗိုလ်ချုပ် ဒိုရိုကော့ဗ်၏ အကြံပေးချက်အတိုင်း ဆောင်ရွက်ရန် စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်အား  တိုက်တွန်းကြလေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် ကမူကား ယခုအချိန်တွင် ထိုးစစ်တိုက်စစ်တစ်ရပ် ဆင်နွဲ ရန်မလိုဟု ယူဆလေသည်။ ဤ တွင် မလွဲမရှောင်သာ နှစ်ဖက်စေ့စပ်ကြရ၏။ သဘောတူညီချက်အရ ပြင်သစ်

ဗိုလ်ချုပ် ဘရိုးစီးယားကို တိုက်ခိုက်ရန် တပ်ခွဲကလေး တစ်ခွဲကို ဖိုးမင့်သို့ စေလွှတ်လိုက်လေသည်။

ထူးဆန်းသော တိုက်ဆိုင်မှုကြောင့် အခက်အခဲဆုံး နှင့် အရေးအကြီးဆုံး အလုပ်တစ်ခုဖြစ်သော ထိုတာဝန်ကို ဗိုလ်ချုပ် ဒိုတူရော့ဗ်အား ပေးအပ်လိုက်ကြ၏။ ဗိုလ်ချုပ် ဒိုတူရော့ဗ်ကား အခြားသူမဟုတ်။ စစ်ဆင်ရေး စီမံကိန်း များကို ရေးဆွဲခဲ့သူ၊ တပ်ရင်းများရှေ့တွင် ကိုယ်တိုင် ခေါင်းဆောင်၍ တိုက်ခိုက်ခဲ့သူ။ ရန်သူအမြောက်တပ်များ ထဲသို့ ရွှေတံဆိပ်များ ပစ်ကြဲချ၍ မိမိတပ်သားများကို အတိုက်ခိုင်းခဲ့သူ စသည်ဖြင့် အခြားဗိုလ်ချုပ်များအကြောင်း ကို အကျယ်တဝင့် ရေးသားဖော်ပြခဲ့ကြသလောက် ၎င်း၏ ဆောင်ရွက်ချက်များနှင့် စပ်လျဉ်း၍ ရာဇဝင်ကျမ်းများတွင် အရေးတယူ ဖော်ပြခြင်းမခံခဲ့ရသော ရိုးရိုးကုပ်ကုပ်နေတတ်သည့် လူပုကလေး ဒိုတူရော့ဗ်၊ မပြတ်သားသူ၊ အရှည် မမြင်တတ်သူဟု ဝိုင်းဝန်းအပြစ်ဖို့ခြင်း ခံခဲ့ရသော်လည်း ဩစတားလစ် တိုက်ပွဲမှစ၍ ၁၈၁၃-ခုနှစ်အထိ ဖြစ်ပွားခဲ့ သမျှသော ရုရှား-ပြင်သစ်စစ်ပွဲများတစ်လျှောက်လုံး၌ ရေထဲမိုးထဲ အခက်အခဲရောက်တိုင်း ရှေ့ဆုံးက ထွက်တိုက် ခဲ့ရသော ဒိုတူရော့ဗ်၊ ဩစတားလစ်စစ်ပွဲ ဩဂတ်တာရိုး တိုက်ပွဲတွင် တပ်နောက်ဖျားမှ အခြားဗိုလ်ချုပ်များ အတုံးအရုံးကျဆုံးချိန်၊ အချို့လည်း အသားနီလန်အောင် ထွက် ပြေးကြချိန်၌ တစ်ယောက်တည်း ခံချခဲ့သော ဒိုတူရော့ဗ်၊ တဟီးဟီးတုန်အောင် ငှက်ဖျားတက်နေသည့်ကြားက တပ်သားနှစ်သောင်းလောက်မျှဖြင့် စမိုးလင့်သို့ သွားရောက် ကာ နပိုလီယန်၏ စစ်တပ်ကြီးတစ်တပ်လုံးနှင့် ဆိုင်၍ စမိုးလင်းမြို့ကို ထိန်းခဲ့ရသော ဒိုတူရော့ဗ်၊ ရန်သူက အမြောက်ကြီးများဖြင့် တဝုန်းဝုန်း ပစ်နေသည့်ကြားက ရန်သူတို့ကို စမိုးလင်းမြို့ မာလာကော့ တံခါးမှ တစ်နေ့ကုန် ခံတိုက်ခဲ့ရသော ဒိုတူရော့ဗ်ပင် ဖြစ်ပါသတည်း။ ဘိုရိုဒီနို တိုက်ပွဲတွင် ဗိုလ်ချုပ်ဘာဂရေး

ရှင်း ကျဆုံးကာ ရုရှားတို့၏ လက်ဝဲတောင်ပံမှ တပ်များ ဆယ်ပုံပုံလျှင် ကိုးပုံ ကျဆုံး လျက်ရှိချိန်၊ ပြင်သစ်အမြောက်ကြီးများအားလုံးက စုပြုံး ပစ်ခတ်လျက်ရှိချိန် တို့၌ ရှိစုမဲ့စုအင်အားကလေးဖြင့် ခုခံရန်စေလွှတ်ခြင်းခံရသူမှာလည်း ဤ"မပြတ်သားသော၊ အရှည်မမြင်တတ်သော" ဒိုတူရော့ဗ်ပင် ဖြစ်ပါသည်။

ထိုစဉ်က ထိုနေရာသို့ အခြားတစ်ယောက်ကိုလွှတ်ပြီးခါမှ ချက်ချင်း ပြန်ခေါ်ကာ ဒိုတူရော့ဗ်ကို စေလွှတ်ခဲ့ပါသည်။ စကားနည်းသော လူပုကလေး ဒိုတူရော့ဗ်သည် ဘိုရိုဒီနို တိုက်ပွဲ လက်ဝဲတောင်ပံသို့ မြင်းတစ်စီးဖြင့် ထွက်လာခဲ့ ပါသည်။ ထိုအခါ၌ ဘိုရိုဒီနို တိုက်ပွဲသည် ရုရှားစစ်တပ် ကြီး၏ အကြီးမားဆုံးသော၊ ဂုဏ်အပြောင်ဆုံးသော အောင် ပွဲကြီးတစ်ခု ဖြစ်လာခဲ့ရလေသည်။ ရာဇဝင်ကျမ်းများ၊ မော်ကွန်းများသည် အခြားများစွာသော သူရဲကောင်းများ အကြောင်းကို လင်္ကာ၊ စကားပြေနှစ်ထွေဖြင့် ခမ်းနားကြီး ကျယ်စွာ အရေးတယူဖော်ပြခဲ့ကြသော်လည်း ဒိုတူရော့ဗ်နှင့် ပတ်သက်၍ကား တစ်လုံးမျှ ရေးသားဖော် မရခဲ့ကြချေ။

ဖိုးမင့်သို့ စေလွှတ်ခြင်းခံခဲ့ရသူ၊ ထိုမှတစ်ဖန် ပြင်သစ်တို့နှင့်အဆုံးပိတ်တိုက်ပွဲဖြစ်ပွားရာ၊ ပြင်သစ် တပ်ကြီး စတင်ဖရိုဖရဲဖြစ်ရာအရပ်ဖြစ်သည့် မာလိုယာရို စလက်သို့ စေလွှတ်ခြင်းခံခဲ့ရသူမှာလည်း ဒိုတူရော့ဗ်ပင် ဖြစ်ပါသည်။ ရုရှား-ပြင်သစ် တိုက်ပွဲစဉ် ထိုကာလအတော အတွင်း ပေါ်ပေါက်ခဲ့ကြသော သူရဲကောင်းများ၊ ဘုန်းကံ ( ပါရမီရှင်များအကြောင်းကို ကျွန်ုပ်တို့ နားမဆံ့အောင် ကြားခဲ့ရသော်လည်း ဗိုလ်ချုပ်ဒိုတူရော့ဗ်အကြောင်းနှင့် စပ်လျဉ်း၍ကား ဘာတစ်လုံးမျှ ပြောသံမကြားရချေ။ အနည်းအကျဉ်း ပြောသံကြားရသည်ဆိုလျှင်လည်း မရေမရာ ဝိုးတိုးဝါးတားမျှသာ ဖြစ်လေသည်။ ဒိုတူရော့ဗ်နှင့် ပတ်သက်၍ ရာဇဝင်ဆရာများက ဤသို့ နှုတ်ပိတ်ရေငုံ လုပ်နေကြခြင်းကို ကြည့်ရုံမျှဖြင့် ဒိုတူရော့ဗ်သည် မည်မျှ တော်သော စစ်ဗိုလ်ကောင်းတစ်ယောက်ဖြစ်ကြောင်း လယ်ပြင်တွင် ဆင်သွားသည့်ပမာ ထင်ရှားလှပါပြီ။

စက်ယန္တရားတစ်ခု၏ အလုပ်လုပ်ပုံကို နားမလည် ( သူတစ်ယောက် အမြင်၌ စက်ထဲသို့ မတော်တဆ ကျသွား ကာ ထိုထိုဤဤ ညပ်ပါရင်း စက်၏ လှုပ်ရှားမှုကို အနှောင့်အယှက်ပြုလျက်ရှိသော အမှိုက်ကလေးတစ်ပင် သည် စက်၏ အရေးကြီးဆုံး အစိတ်အပိုင်းတစ်ခုဟု မှတ်ထင်နေမည်မှာ သဘာဝကျ ပါသည်။ ။

စက်၏ အရေးကြီးဆုံး အစိတ်အပိုင်းသည် စက်  လှုပ်ရှားမှုကို နှောင့်ယှက် ဟန့်တားခြင်း ပြုလျက်ရှိသော အမှိုက်ကလေးတစ်ပင် မဟုတ်ဘဲ တိတ်ဆိတ်စွာ လည်ပတ် လျက်ရှိသော ခွေးသွားစိပ်ကလေးတစ်ခုသာ ဖြစ်သည် ဆိုခြင်းကို စက်ယန္တရား ဖွဲ့စည်းမှုကို နားမလည်သူ တစ်ယောက်အနေဖြင့် မည်သို့မျှ သဘောပေါက်နိုင်မည် မဟုတ်ပါ။

အောက်တိုဘာလ ၁၀-ရက်နေ့တွင် ဗိုလ်ချုပ် ဒိုတူရော့ဗ်သည် ဖိုးမင့်သို့သွား ရာ လမ်းတစ်ဝက်ဖြစ်သော အရစ္စတိုဗိုအမည်ရှိ ရွာကလေးတစ်ရွာတွင် ရပ်နား ကာ မိမိရရှိသော အမိန့်များကို အကောင်အထည်ဖော်ရန် အတိအကျ ပြင်ဆင် လျက်ရှိ၏။ ထိုစဉ်တွင် သွေးရူး သွေးတန်းဖြင့် ရုရှားတို့ကို တိုက်ခိုက်ရန် ပြင်သစ် ဗိုလ်ချုပ် မူးရတ်၏စခန်းသို့ ရောက်လျက်ရှိသည့် ပြင်သစ်စစ်တပ် ကြီးတစ်တပ် လုံးသည် အကြောင်းတစ်စုံတစ်ရာ မရှိဘဲ ရုတ်တရက် လက်ဝဲဘက်သို့ ကွေ့ကာ ကာလူဂါ ပေတစ်ရာ လမ်းသစ်ပေါ်တွင် ဘွားခနဲပေါ်လာပြီး ပြင်သစ်ဗိုလ်ချုပ် ဘ ရိုးစီးယား၏ တပ်တစ်တပ်တည်းသာ ရှိနေသော ဖိုးမင့် သို့ ရောက်လာ၏။ ထို အချိန်၌ ရုရှားဗိုလ်ချုပ်ဒိုတူရော့ဗ်၏ ကွပ်ကဲမှုအောက်တွင် ဒိုရိုကော့ဗ်၏ တပ်ခွဲ တစ်ခွဲနှင့် ဖစ် ဂနာနှင့် ဆက်စလေဗင်တို့ ဦးစီးသော ပြောက်ကျားတပ်ခွဲ ကလေး နှစ်ခွဲသာ ရှိ၏။

အောက်တိုဘာလ ၁၁ ရက်နေ့ညနေ၌ ပြောက်ကျား တပ်ခွဲမှူး ဗိုလ်ချုပ် ဆက်စလေဗင်သည် ဖမ်းဆီးရမိသော ပြင်သစ်ကိုယ်ရံတော်တပ်သားတစ်ဦးကို ဗိုလ်ချုပ် ဒိုတူရော့ဗ် စခန်းချရာ အရစ္စတိုဗိုစခန်းဌာနချုပ်သို့ ခေါ်လာခဲ့လေသည်။ ပြင်သစ်သုံ့ပန်း၏ အဆိုအရ ထိုနေ့က ဖိုးမင့်သို့ ဝင်ရောက်လာခဲ့သောတပ်မှာ ပြင်သစ်စစ်တပ်ကြီး၏ တပ်ဦးဖြစ်ကြောင်း၊ တပ်ဦးနှင့်အတူ နပိုလီယန်လည်း လိုက်ပါလာကြောင်း၊ ပြင်သစ်စစ်တပ်ကြီးမှာ လွန်ခဲ့သော လေးရက်ကပင် မော်စကိုမှ ဆုတ်ခွာခဲ့ကြောင်းဖြင့် သိရ၏။ ထိုနေ့ညနေ၌ပင် ဘိုရော့ဗ်မှ ရောက်လာသော အိမ်ကျွန် တစ်ဦးကလည်း အလွန်ကြီးမားသော ပြင်သစ်စစ်တပ်ကြီး တစ်တပ် ဘိုရော့ဗ်မြို့ထဲသို့ ရောက်၍လာကြောင်းဖြင့် ပြောပြ၏ ။ ဗိုလ်ချုပ် ဒိုတူရော့ဗ်၏တပ်မှ ကော့ဆက်မြင်း တပ်သား အချို့ကလည်း ပြင်သစ်ကိုယ်ရံတော်တပ်များ ဘိုရော့ဗ်မြို့ဘက်ဆီသို့ ချီလာသည်ကို မြင်ခဲ့ရကြောင်းဖြင့် သတင်းပို့ကြသည်။ ဤသတင်းများကို ထောက်လျှင် (ပြင်သစ်ဗိုလ်ချုပ် ဘရိုးစီးယား၏) တပ်မကြီးတစ်တပ်မျှ သာ ရှိမည်ဟု မျှော်လင့်ရသော ဖိုးမင့်ဒေသတွင် မျှော်လင့် ထားခြင်း မရှိသော ကာလုဂါပေတစ်ရာအတိုင်း မော်စကိုမှ ဆုတ်ခွာလာသော ပြင်သစ်စစ်တပ်ကြီးတစ်တပ်လုံးနှင့် ပက်ပင်းတိုးလျက် ရှိချေပြီ။ ဗိုလ်ချုပ်ဒိုတူရော့ဗ်သည် မည်သို့ပြုရမည်ကို ကောင်းစွာ မစဉ်းစားရသေးသည့် အတွက် မည်သည့် လှုပ်ရှားမှုကိုမျှ မလုပ်ချင်သေးဘဲ စောင့်ကြည့်လို၏။ မိမိကို ပေးလိုက်သော အမိန့်မှာ ဖိုးမင့် ကို တိုက်ရန်ဖြစ်၏။ သို့ရာတွင် ဤသည်မှာလည်း ဘရိုး စီယား၏ တပ်မကြီးတစ်ခုတည်း ရှိချိန်၌သာဖြစ်၏။ သို့ ရာတွင် ယခုပြင်သစ် စစ်တပ်ကြီးတစ်တပ်လုံး ရောက်လျက် ရှိလေပြီ။ ဗိုလ်ချုပ် အာမိုလော့ဗ်ကမူ ကိုယ့်ဘာသာ ဆုံးဖြတ်၍ တိုက်လိုသည်။ သို့ရာတွင် ဗိုလ်ချုပ် ဒိုတူ ရော့ဗ်က စစ်သေနာပတိချုပ်၏ အမိန့်အတိုင်း လိုက်နာ ရမည်ဟု ဆိုသည်။ ထို့ကြောင့် နောက်ဆုံးတွင် စစ်သေနာ ပတိချုပ်၏ စစ်ဦးစီးဌာနချုပ်သို့ အကြောင်းကြားရန် ဆုံးဖြတ်လိုက်ကြသည်။

ထိုသတင်းကို သွားရောက်ပို့ရန်အတွက် ချက်ချက် ချာချာရှိသော ဘိုကိုဗီတီ နေ့ဇ်ဆိုသူ တပ်ဗိုလ်တစ်ဦးကို ရွေးချယ်လိုက်ကြ၏။ ၎င်းက ရေးသားထားသော သတင်း ပို့ချက်တစ်စောင်ကို ပေးကာ နှုတ်ဖြင့်လည်း ရှင်းလင်း ပြောပြရန်ဖြစ်၏။ ညဥ့်သန်းခေါင်လောက်၌ ဘိုကိုဗီတီ နေ့ဇ်သည် အစီရင်ခံစာနှင့် နှုတ်မိန့်ကို ရယူပြီးနောက် ကော့ဆက်မြင်းတပ်သားတစ်ဦး၊ လမ်းတွင် လဲလှယ်ရန် မြင်းပိုများနှင့် အတူ စစ်ဦးစီးဌာနချုပ်သို့ ထွက်လာခဲ့ လေသည်။

# အခန်း ၁၆

ထိုညမှာ ပူနွေးမည်းမှောင်သည့် နွေနှောင်းညတစ်ညဖြစ်၏။ မိုးရွာခဲ့သည်မှာ လေးရက်မျှ ရှိခဲ့လေပြီ။ ဘိုကိုဗီတီနေ့ဇ်နှင့် ၎င်း၏တပ်သားသည် လမ်းတွင် နှစ်ကြိမ်မြင်းလဲကာ ရွှံ့တို့ဖြင့် ချော်လျက်ရှိသည့် လမ်းတစ်လျှောက်၌ တစ်နာရီခွဲအတွင်း မိုင်နှစ်ဆယ်ခရီးပေါက်အောင် ဒုန်းစီးခဲ့ကြရာ စစ်ဦးစီးဌာနချုပ် ရုံးစိုက်ရာ လစ်တာရှိကာရွာသို့ ညတစ်

” ချက်တီးအကျော်တွင် ရောက်ရှိခဲ့ကြ၏။ “စစ်ဦးစီးဌာန ချုပ်” ဟူသော ဆိုင်းဘုတ်ချိတ်ထားရာ ကြခတ်ခြံစည်းရိုး အတွင်းရှိ တဲအိမ်ကလေးတစ်လုံးရှေ့တွင် မြင်းပေါ်မှ ဆင်းလိုက်၍ ဇက်ကြိုးများကို ပစ်ချခဲ့ပြီးနောက် အခန်း နှစ်ခန်းကြားရှိ မည်းမှောင်သော စင်္ကြံကလေးထဲသို့ ဝင်လာ ခဲ့သည်။

“တာဝန်ကျ ဗိုလ်ချုပ်၊ မြန်မြန်။ အရေးကြီးတယ်” အိပ်ရာမှ ထလာကာ စင်္ကြံလမ်းကြားကလေးထဲတွင် တဦးဦး ချေဆတ်လျက်ရှိသော လူတစ်ယောက်ကို ဘိုကို ဗီတီနေ့ဇ်က လှမ်းပြောလိုက်သည်။ ။

“ဗိုလ်ချုပ် ညနေကတည်းက ဖျားနေတယ်ဗျ။ မအိပ်ရတာလဲ သုံးညရှိပြီ” တပ်လုလင်က လေသံပျော့ ကလေးဖြင့် ပြော၏။ “အရေးကြီးရင် ဗိုလ်ကြီးကို အ ရင် နှိုးကြည့်ပါလား”

“မဖြစ်ဘူးဗျ၊ သိပ်အရေးကြီးတယ်။ ဗိုလ်ချုပ် ဒိုတူရော့ဗ်ဆီက သတင်းပါ တယ်”

ဘိုကိုဗီတီနော့ဗ်သည် အမှောင်ထဲတွင် စမ်းရင်း တံခါးပေါက်ကို တွေ့သဖြင့် အခန်းထဲသို့ လှမ်းဝင်လိုက် သည်။

တပ်လုလင်သည် ပြန်ဝင်သွားကာ တစ်စုံ တစ် ယောက်ကို နှိုးလျက်ရှိ၏။

“ဗိုလ်ချုပ် ခင်ဗျာ၊ ဗိုလ်ချုပ်။ ဆက်သား လာပါ တယ်”

“ဘာလဲကွ။ ဘယ်သူလဲ။ ဘယ်သူ့ဆီက ဆက် သားလဲ” အိပ်ချင်မူးတူး အသံတစ်သံက ပြော၏။ “

“ဗိုလ်ချုပ် ဒိုတူရော့ဗ်နဲ့ ဗိုလ်ချုပ်အာမိုလော့ဗ်ဆီက ပါ။ နပိုလီယန် ဖိုးမင့်မှာ ရောက်နေပါပြီ ဗိုလ်ချုပ်” ဘိုကိုဗီတီနော့ဗ်က လှမ်းပြောလိုက်သည်။ အမှောင်ထဲ တွင် ဖြစ်၍ မည်သူမည်ဝါ မမြင်ရသော်လည်း အသံကိုထောက်၍ ဗိုလ်ချုပ် ကိုနို နစ်ဆင် ဖြစ်မည်ဟု ခန့်မှန်းလိုက်သည်။

အိပ်ရာမှ နိုးလာသူသည် သမ်းဝေသော ကိုယ်ကို တွန့်လိမ်ဆန့်ထုတ် နေသည်။ ။

“ကျွန်တော်တော့ မနှိုးချင်ဘူးဗျ” ထိုသူကမှောင်ထဲ တွင် တစ်စုံတစ်ရာကို စမ်းသပ်ရှာဖွေရင်း ပြောလိုက်သည်။ “တော်တော်ဖျားနေတယ်။ သတင်းက ကောလာဟလ လားမှ မသိတာဗျာ”

”ဒီမှာ သတင်းပို့ချက်ပါတယ်ခင်ဗျ” ဘိုကိုဗီတီ နော့ဗ်က ပြောလိုက်သည်။ “တာဝန်ကျ ဗိုလ်ချုပ်ကို ချက်ချင်းပေးရမယ်လို့ အမိန့်ပါတယ်”

“ခဏနေဦးဗျာ။ ကျွန်တော် ဖယောင်းတိုင် ထွန်း လိုက်ဦးမယ်။ ဟာ သောက်ရေးထဲမှာ ဒီဟာက ဘယ် ရောက်နေပြန်သလဲ မသိပြန်ဘူး”ကိုယ်ကို ဆန့် ထုတ်နေ သူက တပ်လုလင်ကို လှမ်းပြောလိုက်သည်။ (ထိုသူမှာ ဗိုလ်ချုပ် ကိုနိုနစ် ဆင်၏ တပ်ရေးဗိုလ်ချုပ် ရှာဘီနင် ဖြစ်သည်။) ဟော၊ ဒီမှာ။ တွေ့ပြီ၊ တွေ့ပြီ”

တပ်လုလင်က မီးခတ်ကို ခြစ်လျက်ရှိစဉ် ဗိုလ်ချုပ် ရှာဘီနင်သည် ဖယောင်းတိုင်ပေါ်မှ တစ်စုံတစ်ရာကို သွားကိုင်မိရာက

”အား ဒီကောင်တွေကလဲကွာ ထီ”ဟု စက်ဆုပ် ရွံရှာစွာ အော်လိုက်သည်။

မီးခတ်မှ မီးပွင့်များ၏အရောင်၌ ဗိုလ်ချုပ်ရာဘီနင် ၏ နုနယ်ပျိုရွယ်သော မျက်နှာကို မြင်ရသည်။ ဗိုလ်ချုပ် ရှာဘီနင်သည် ဖယောင်းတိုင်ကို လက်တွင် ကိုင်တွယ် လျက်ရှိသည်။ အိပ်ပျော်နေသော အခြားသူတစ်ယောက်၏ မျက်နှာကို လည်း ဘိုကိုဗီတီနော့ဗ် မြင်ရသည်။ ထိုသူမှာ ဗိုလ်ချုပ် ကိုနိုနစ်ဆင်ဖြစ်၏။

လဲမြို့မှ မီးပွားများနှင့် ထိတွေ့သဖြင့် ကန့်ကျောက် များသည် ပြာရာမှ နီစ ပြုလာကာ မီးတောက်လာသော အခါ၌ ဗိုလ်ချုပ်ရှာဘီနင်သည် ပျားဖယောင်းတိုင် တစ် တိုင်ကို ထွန်းလိုက်ပြီးနောက် ဆက်သားမျက်နှာကို ကြည့် လိုက်သည်။ ပျားဖယောင်းတိုင်ကို ကိုက်လျက်ရှိသော ပိုးဟပ်များသည် အဝေးသို့ ထွက်ပြေး ကြ၏။ ဆက်သား ဘိုကိုဗီတီနော့ဗ်မှာ တစ်ကိုယ်လုံး ရွှံ့စက်တွေ ပေကျံလျက် ရှိ၏။ မျက်နှာကို အင်္ကျီလက်ဖြင့် သုတ်ထားသောကြောင့် မျက်နှာတွင်လည်း ရွှံ့ စက်တွေ ပေလျက်ရှိလေသည်။

“ဘယ်ကရတဲ့ သတင်းလဲ”ဗိုလ်ချုပ်ရှာဘီနင်က စာအိတ်ကို လှမ်းယူရင်း မေးလိုက်သည်။

“သတင်းကတော့ ခိုင်လုံပါတယ် ဗိုလ်ချုပ်” , ဘိုကိုဗီတီနေ့ဗ်က ပြော၏။

“သံ့ပန်းတွေဆီကရော၊ ကော့ဆက်မြင်းတပ်တွေ ဆီကရော၊ ကင်းထောက်တွေဆီကရော ရတဲ့ သတင်းက - အားလုံးအတူတူပဲ”

”ကျွန်တော်လဲ ဘာမှမတတ်နိုင်ဘူး။ ဗိုလ်ချုပ် ကိုနိုနစ်ဆင်ကိုပဲ နိုးရတော့မှာပဲ” ဗိုလ်ချုပ်ရှာဘီနင်သည် ထိုင်ရာမှထကာ ခပ်လှမ်းလှမ်းတွင် ညဆောင်းဦးထုပ်ကို ဆောင်းကာ ဝတ်ရုံအကျီကြီးတစ်ထည်ကို ခြုံ၍ အိပ်ပျော် လျက်ရှိသူထံ လျှောက်သွား၏။

“ဗိုလ်ချုပ်ခင်ဗျာ၊ ဗိုလ်ချုပ်”ဗိုလ်ချုပ်ရှာဘီနင်က နှိုး၏။ (ဗိုလ်ချုပ်ကိုနိုနစ်ဆင်က တုတ်တုတ်မလှုပ်။)

”စစ်ဦးစီးဌာနချုပ်လို့ လိပ်တပ်ထားတယ်ခင်ဗျ”

ဗိုလ်ချုပ်ရှာဘီနင်က ပြုံး၍ ပြောလိုက်သည်။ ဤစကားလုံးများကို ကြားလျှင် ဗိုလ်ချုပ်ကိုနိုနစ်ဆင် ငေါက်ခနဲထလာမည်ကို သိ၍ ပြုံးလိုက်ခြင်းဖြစ်သည်။

ထင်သည့်အတိုင်းပင် ညဆောင်းဦးထုပ်ဆောင်း ထားသည့်ခေါင်းသည် ချက်ချင်းထလာ၏။ ဗိုလ်ချုပ် ကိုနိုနစ်ဆင်၏ ချောမောခန့်ညား၍ ပြတ်သားရဲရင့်သော မျက်နှာသည် အဖျားသွေးကြောင့် နီရဲလျက်ရှိ၏။ လက်ရှိ အရေးကိစ္စများနှင့် အလှမ်းကွာလျက်ရှိ၍ အိပ်မှုန်စုံမွှားဖြင့် ခပ်တွေတွေအမူအရာမျိုးသည် ၎င်း၏မျက်နှာပေါ်တွင် ခေတ္တမျှ ယှက်သန်းလျက်ရှိ၏။ သို့ရာတွင် ဗိုလ်ချုပ်ကိုနို

နစ်ဆင်သည် ချက်ချင်းလှုပ်ရှားလာကာ ၎င်း၏မျက်နှာ သည် ခါတိုင်းကဲ့သို့ တည်ငြိမ်ပြတ်သားသော အမူအရာကို ဆောင်လာသည်။

"ဘာလဲဗျ။ ဘယ်သူ့ဆီကလဲ"ဟု ဗိုလ်ချုပ် ကိုနို့နစ်ဆင်က လျင်မြန်စွာ မေးလိုက်သည်။ သို့ရာတွင် အလေသုံးဆယ်ဖြစ်ခြင်းမျိုး မရှိချေ။ ၎င်း၏ မျက်လုံးများသည် အလင်းရောင်ကို တွေ့လိုက်သဖြင့် မျက်တောင် တဖျပ်ဖျပ် ခတ်လျက်ရှိကြ၏။

ဆက်သား ဘိုကိုဗီတီနော့ဗ်၏ သတင်းပို့ချက်ကို နားထောင်လျက်ရှိရင်း ဗိုလ်ချုပ်ကိုနို့နစ်ဆင်သည် စာအိတ် ပေါ်မှ ချိပ်ကိုခွာကာ စာကို ဖတ်လျက် ရှိသည်။ ဗိုလ်ချုပ် ကို နို့နစ်ဆင်သည် စာကိုဖတ်ပြီးလျှင်ပြီးချင်း သိုးမွေး ခြေအိတ်စွပ်ထားသော ခြေထောက်နှစ်ဖက်ကို မြေကြီးပေါ် သို့ချကာ ဖိနပ်ရှည်ကြီးကို စွပ်နေသည်။ ထိုနောက် ည ဆောင်းဦးထုပ်ကိုချွတ်၍ ခေါင်းဖြီးလိုက်ပြီး ဦးထုပ်ကို ပြန်ဆောင်းလိုက်သည်။

"မင်း ဒီကို ချက်ချင်းရောက်လာရဲ့ လား။ လာ၊ စစ်သေနာပတိချုပ်ဆီ သွားကြမယ်" ရောက်ရှိလာသောသတင်းသည် အလွန်အရေးကြီး သည့် သတင်းဖြစ်၏။ အချိန်ဆွဲနေ၍ မဖြစ်ဟု ဗိုလ်ချုပ် ကိုနို့နစ်ဆင် ချက်ချင်းနားလည်လိုက်သည်။ ဤသတင်း သည် ဆိုးသလော ကောင်းသလောဟူ၍ပင် မတွေးမိတော့ချေ။ သတင်းကောင်းလော၊ သတင်းဆိုးလော ဆိုသည့် အချက်ကိုလည်း ဗိုလ်ချုပ် ကိုနို့နစ်ဆင် စိတ်မဝင်စားချေ။ ဗိုလ်ချုပ် ကိုနို့နစ်ဆင်သည် စစ်ပွဲကြီးတစ်ခုလုံး၏ ကိစ္စအဝဝကို အသိဉာဏ်ဖြင့် လည်းကောင်း၊ ဆင်ခြင်တုံ တရားဖြင့် သော်လည်းကောင်း ခံစားသိရှိခြင်း မဟုတ်ဘဲ ၎င်း၏ရင်ထဲရှိ တစ်စုံတစ်ရာဖြင့်သာ ခံစားသိရှိခြင်း ဖြစ်လေသည်။ သတင်းကို ယုံနေ၍လည်း ကိစ္စမပြီး။ သတင်းနှင့် ပတ်သက်၍ ဆွေးနွေး ငြင်းခုံနေ၍လည်း မပြီး။ လုပ်စရာရှိသည်ကို မြန်မြန်

လုပ်မှသာ ကိစ္စပြီးမည် ဟူသော ယုံကြည်ချက်သည် ဗိုလ်ချုပ်ကိုနိုနစ်ဆင်၏ ရင်ထဲတွင် နက်ရှိုင်းစွာ ကိန်းအောင်းလျက်ရှိသည်။ သို့ဖြင့် ဗိုလ်ချုပ်ကိုနိုနစ်ဆင်သည် မိမိလုပ်စရာရှိသမျှကို မြန်မြန် ထက်ထက် ခွန်စိုက်အားစိုက် လုပ်လေ့ရှိပေသည်။

ဗိုလ်ချုပ် ဘာဂလေ၊ ဗိုလ်ချုပ် ရေစကီ၊ ဗိုလ်ချုပ် အာမိုလေ့ဗ်၊ ဗိုလ်ချုပ် ပလာတော့ဗ်၊ ဗိုလ်ချုပ်မိလိုရာဒိုဗစ်ချ် အစရှိသော ၁၈၁၂-ခုနှစ် စစ်ပွဲ၏ သူရဲကောင်းဆိုသူများ စာရင်းတွင် ဗိုလ်ချုပ်ကိုနိုနစ်ဆင်ကို ထည့်သွင်းထားခြင်းမှာ စင်စစ်၌ (ဗိုလ်ချုပ် ဒိုတူရော့ဗ်ကဲ့သို့ပင်) မကောင်းတတ် လွန်း၍ ထည့်ထားခြင်း ဖြစ်ဟန်တူပါသည်။ ဗိုလ်ချုပ် ဒိုတူရော့ဗ်ကဲ့သို့ပင် ဗိုလ်ချုပ်ကိုနိုနစ်ဆင်ကိုလည်း အကြားအမြင် အစွမ်းအစနည်းသူဟု ရာဇဝင်ဆရာများက ရေးသား ခဲ့ကြပါသည်။ ဗိုလ်ချုပ် ဒိုတူရော့ဗ်ကဲ့သို့ပင် ဗိုလ်ချုပ် ကိုနိုနစ်ဆင်သည် မည်သည့်စစ်ဆင်ရေးစီမံကိန်းကိုမျှ ရေးဆွဲခြင်းမပြုသော်လည်း မိုးထဲရေထဲ အကျပ်အတည်း ရောက်ပြီဆိုလျှင် ၎င်းအား ရှေ့ဆုံးမှ တွေ့ရတတ်သည်သာ ဖြစ်ပါသည်။ ဗိုလ်ချုပ်ကိုနိုနစ်ဆင်သည် စစ်ဦးစီးဌာနချုပ် တာဝန်ကျ ဗိုလ်ချုပ်အဖြစ် ခန့်အပ်ခြင်းခံရသည့်အချိန်မှစ၍ ရောက်လာသမျှ ဆက်သားတိုင်းအား မိမိကို အချိန်မရွေး လာရောက်နှိုးရန် ခွင့်ပြုရမည်ဟု ဆိုင်ရာသို့ အမိန့်ပေးကာ တံခါးကို အမြဲဖွင့်အိပ်ခဲ့သည်သာ ဖြစ်ပါသည်။ တိုက်ပွဲ တွင်း၌လည်း ဗိုလ်ချုပ်ကိုနိုနစ်ဆင်သည် အပစ်အခတ် အထူထပ်ဆုံးနေရာတွင် အမြဲတမ်း ရှိတတ်သဖြင့် စစ်  သေနာပတိချုပ်ကပင် ၎င်းအား အတင့်ရဲလွန်းသည်ဆိုကာ ရှေ့တန်းစစ်မျက်နှာသို့ မလွှတ်ရဲလောက်အောင် ဖြစ်ခဲ့ပါ သည်။ ဗိုလ်ချုပ် ဒိုတူရော့ဗ်ကဲ့သို့ပင် ဗိုလ်ချုပ် ကိုနိုနစ်ဆင် သည် စက်ကိရိယာကြီးတွင် အရေးကြီးသော အစိတ်အပိုင်း တစ်ခုဖြစ်သည့် အသံမမြည်သော၊ ဆူညံခြင်း မရှိသော၊ လူမသိသော ခွေးသွားစိပ်ကလေးတစ်ခု ဖြစ်ပါသည်။

ဗိုလ်ချုပ် ကိုနိုနစ်ဆင်သည် တဲထဲမှ စိုစွတ်သော ညအမှောင်ထုထဲသို့ ထွက်လာရင်း မျက်မှောင်ကုတ်လိုက် မိသည်။ ခေါင်းထဲမှ တဆစ်ဆစ်ကိုက်ခဲခြင်း

ကြောင့် တစ်ကြောင်း၊ စစ်ဦးစီးဌာနချုပ်တွင်ရှိသော အရေးတကြီး ပုဂ္ဂိုလ် တစ်မြို့လုံး (အထူးသဖြင့် တာရူတီနိုတိုက်ပွဲ ပြီး ကတည်းက စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ ခြေလှမ်း အမှားကို စောင့်ဖမ်းရန် ချောင်းနေသော ဗိုလ်ချုပ်ဘင်နစ် ဆန်တို့ လူသိုက်) ဤသတင်းကြောင့် ယောက်ယက်ခတ် အလုပ်များဟန်ဆောင်ကြဦးမည်ကို စိတ်မချမ်းမသာ စဉ်းစားမိခြင်းကြောင့်တစ်ကြောင်း၊ ၎င်းတို့တစ်သိုက် အကြံပေးကြ၊ ငြင်းခုံကြ၊ အမိန့်များထုတ်လိုက်၊ ရုပ်သိမ်း လိုက် လုပ်ကြဦးမည်ကို မြင်ယောင်မိခြင်းကြောင့် တစ် ကြောင်း ဗိုလ်ချုပ် ကိုနိုနစ်ဆင် မျက်မှောင်ကုတ်မိခြင်း ဖြစ်လေသည်။ ဗိုလ်ချုပ်ကိုနိုနစ်ဆင်သည် ဤအခြေအနေ ကို မိမိအနေဖြင့် မည်သို့မျှ တတ်နိုင်မည် မဟုတ်သည်ကို သိသော်လည်း ထိုအချက်ကို မြင်ယောင်ကာ စိတ်မချမ်း မသာဖြစ်လျက် ရှိလေသည်။

ထင်သည့်အတိုင်းပင် မိမိက ထိုသတင်းကို သွားရောက်ပို့ပေးသောအခါ၌ ဗိုလ်ချုပ်တိုးလ်သည် အချင်းချင်းအတူနေသူ ဗိုလ်ချုပ်တစ်ဦးအား ၎င်း၏စီမံကိန်းကြီးကို ချက်ချင်း ဦးကာချဲ့ရှင်းနေသည်မှာ မပြီးနိုင်တော့ချေ။ ပင်ပန်းနွမ်းနယ်စွာ နားထောင်လျက်ရှိသည့် ဗိုလ်ချုပ် ကိုနိုနစ်ဆင်က မိမိစစ်သေနာပတိချုပ်ထံ သွားရဦးမည်ဟု ပြောတော့မှ ကိစ္စပြတ်လေတော့သည်။

# အခန်း ၁၇

အသက်ကြီးသူတို့ ထုံးစံအတိုင်း စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ညညတွင် ကောင်းစွာ အိပ်မပျော်ချေ။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် နေ့လယ်နေ့ခင်းတွင်  ခေတ္တမျှ မှေးခနဲ အိပ်ပျော်သွားတတ်သော်လည်း ညတိုင်လျှင် အဝတ်အစားလဲခြင်း မပြုတော့ဘဲ အိပ်ရာပေါ်တွင် လှဲရုံမျှ လှဲချကာ မျက်လုံးအကြောင်သားဖြင့် တွေးမိတွေးရာကို တွေးနေတတ်သည်။

ယခုလည်း စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကြီးမားလေးလံ၍ အမာရွတ်တို့ဖြင့် ပြည့်လျက်ရှိသော ၎င်း၏ခေါင်းကို ဆူဖြိုးတုတ်တိုသော လက်တစ်ဖက်ဖြင့် ထောက်ကာ အိပ်ရာထက်တွင် တစောင်းလှဲလျက် ရှိလေ သည်။ အကောင်းပကတိ ကျန်နေသော မျက်လုံးတစ်ဖက် သည် ပွင့်လျက်ရှိကာ အမှောင်ထဲသို့ စူးစိုက်လျက်ရှိ၏။

ဘုန်းတော်ကြီးသော ဘုရားနှင့် တိုက်ရိုက် ဆက် သွယ်ခွင့်ရ၍ စစ်ဦးစီးဌာနချုပ်တွင် အရေးပါဆုံး ဖြစ်သော ဗိုလ်ချုပ် ဘင်နစ်ဆန်က မိမိနှင့် မျက်နှာချင်း မဆိုင်မိ အောင် ရှောင်လျက်ရှိချိန်မှစ၍ မိမိနှင့်တကွ မိမိတပ်များ သည် အကျိုးမဲ့သော ထိုးစစ် တိုက်စစ် လှည့်စားမှုများကို ပြုလုပ်ရတော့မည်မဟုတ်ဟု တွေးကာ စိတ်သက်သာရာ ရလျက်ရှိ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် တာရူတီနို တိုက်ပွဲနှင့် ၎င်းမတိုင်မီ တစ်ရက်က သင်ခန်းစာ များကို ပြုလုပ်ရတော့မည်မဟုတ်ဟု တွေးကာ စိတ် သက်သာရာရလျက်ရှိ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် တာရူတီနိုတိုက်ပွဲနှင့် ၎င်းမတိုင်မီတစ်ရက်က သင်ခန်းစာများကို နာကျင်စွာ သတိရမိသည်။ အခြား သူများသည်လည်း မိမိကဲ့သို့ပင် ထိုသင်ခန်းစာကို ရကြလိမ့်မည်ဟု တွေးလျက်ရှိလေသည်။ ။

"ထိုးစစ် တိုက်စစ်ပြု၍ မည်သို့ အကျိုးထူးမည် နည်း။ ထိုးစစ်တိုက်စစ်ပြုခြင်းကား ငါတို့၌ အရှုံးကိုသာ ဖြစ်ချေသည်။ ဤသည်ကို သင်းတို့ နားလည်ဖို့ကောင်း သည်။ ယခုအချိန်၌ စိတ်ရှည်ခြင်းနှင့် အချိန်တို့သာလျှင် ငါ၏စစ်သည်၊ ငါ၏ သူရဲကောင်း ဖြစ်တော့သည်"ဟု စစ်သေနာပတိချုပ် ကူတူဇော့ဗ် တွေးမိ၏။ သစ်သီးတစ်လုံး ကို မမှည့်ခင် မခူးရာ၊ ရင့်မှည့်က ထိုသစ်သီးသည် အလိုလို ကြွေကျရာ၏။ သို့ရာတွင် ရင့်မှည့်ခြင်းမရှိမီ ထို သစ်သီးကိုခူးက သစ်သီးလည်း အရသာမရှိ။ အပင် လည်း ပျက်စီးရာ၏။ သွားများသည်လည်း ဥပဒ်ဖြစ်ရာ၏။

စစ်သေနာပတိချုပ်သည် ဤအချက်ကို သဘောပေါက် ပေသည်။ သားရဲတိရစ္ဆာန်ကြီးသည် ဒဏ်ရာရခဲ့လေပြီ။

ရုရှားနိုင်ငံကြီး တစ်နိုင်ငံလုံး၏အားဖြင့်သာ ဖြစ်စေနိုင်သော ဒဏ်ရာဒဏ်ချက်မျိုးကို ရစေခဲ့လေပြီ။ ကျွမ်းကျင်သော တောလိုက်မုဆိုးကဲ့သို့ စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည်လည်း ဤအချက်ကို ကောင်းစွာသိ၏။ သို့ရာတွင် ထိုဒဏ်ရာသည် သေလောက်သော ဒဏ်ရာဟုတ်မဟုတ် ကိုကား ယခုတိုင် မသိရသေးချေ။ သို့ရာတွင် နပိုလီယန် ထံမှ မြို့စားကြီး လောရစ္စတန်နှင့် မြို့စားကြီး ဗာသေလေမီ တို့ ရောက်ရှိလာခြင်း၊ ပြောက်ကျားတပ်များ၏ သတင်းပို့ချက်ကို ရရှိခဲ့ခြင်း စသည်တို့ကိုထောက်သော် ထိုဒဏ်ရာ သည် သေလောက်သော ဒဏ်ရာဖြစ်ကြောင်းကို စစ်သေနာ ပတိချုပ် ကူတူဇော့ဗ် စိတ်ချလက်ချ သဘောပေါက်ခဲ့ လေပြီ။ သို့ရာတွင် ဤအချက်ကို အထောက်အကူပြုမည့် နောက်ထပ်အထောက်အထားများ လိုပေသေးသည်။ ထို့ကြောင့် အချိန်ကိုစောင့်ရန် လိုပေသေးသည်။

"သင်းတို့ကား ရန်သူ ဘယ်မျှ ဒဏ်ရာပြင်းသည်ကို သွားရောက်ကြည့်ရှုလိုကြသည်။ သို့ရာတွင် စောင့်ကြည့်က မကြာမီ သိရမည်သာ ဖြစ်သည်။ သင်းတို့ကား ဤသို့ မဟုတ်ပြီး စစ်ကစားရမည်၊ ထိုးစစ်တိုက်စစ်ပြုရမည်သာ တဖွဖွ ပြောနေကြသည်"ဟု စစ်သေနာပတိချုပ်ကူတူဇော့ဗ် တွေး၏။

"သင်းတို့ မည်သည့်အတွက်ကြောင့် ဤမျှ စိတ် စောနေကြသနည်း။ သင်းတို့ ရာထူးတက်လိုကြ၍၊ လူစွမ်း ကောင်းလုပ်လိုကြ၍သာ ဖြစ်သည်မဟုတ်လော။ သင်းတို့ ကား စစ်တိုက်ခြင်းကို ကလေးကစားစရာသဖွယ် သဘော ထားကြဟန်ရှိသည်။ သင်းတို့ကား သင်းတို့မည်မျှ အတိုက် အခိုက်တော်ကြောင်းကို ပြချင်သော ကလေးတစ်ယောက် နှင့်ပင် တူတော့သည်။ ထိုသို့သော သူများထံမှ မည်သို့

အဓိပ္ပာယ်ရှိသော သင်ခန်းစာကို ထုတ်ယူနိုင်မည်နည်း။ သို့ရာတွင် ယခုအချိန်ကား ထိုသို့ ကိုယ်စွမ်းကိုယ်စကို ပြလို၍ စစ်တိုက်ရမည့်အချိန် မဟုတ်ပြီ။"

"သင်းတို့သည် မည်မျှကောင်းမွန်ထက်မြက်သော စစ်ကစားမှုများကို အကြံပေးတင်ပြခြင်းပြုကြသနည်း။ အခက်အခဲကလေး သုံးလေးခုကို မြင်ကာမျှ ဖြင့် (ဤတွင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပီတာစဘတ် ရွှေ နန်းတော် ကြီးမှ ပေးပို့သော အထွေထွေစစ်ဆင်ရေး စီမံကိန်း ကြီးကို အမှတ်ရလာသည်။) အစစအရာရာကို ကြိုတင်  သိမြင်သည်ဟု ထင်မှတ်နေကြသည်။ တကယ်၌ကား အခက်အခဲ အကျပ်အတည်းဟူသည် အဆုံးမရှိပြီ"

ဘိုရိုဒီနိုတိုက်ပွဲတွင် ရရှိခဲ့သော ဒဏ်ရာသည် ပြင်သစ်တို့အဖို့ သေလောက် သည့်ဒဏ်ရာ ဟုတ်မဟုတ် "

ဆိုသည့် ပြဿနာသည် စစ်သေနာပတိချုပ် ကူတူဇော့ဗ် ၏ ခေါင်းထဲတွင် တစ်လကြာမျှ လိပ်ခဲတည်းလည်း ဖြစ်လျက်ရှိသည်။ တစ်ဖက်၌ ပြင်သစ်တို့သည် မော်စကို ကို သိမ်းပိုက်ခဲ့ပြီး ဖြစ်သည်မှန်၏။ သို့ရာတွင် မိမိနှင့် တကွ ရုရှားပြည် သူများက အားကုန်ပစ်သွင်းလိုက်သော ကြောက်ဖွယ်ထိုးနှက်ချက်သည် သေ လောက်သော ထိုးနှက် ချက်ဖြစ်ဆိုခြင်းကိုကား စစ်သေနာပတိချုပ် တူတူဇော့ဗ် သည့် အသွေးထဲအသားထဲက ယုံကြည်လျက်ရှိလေသည်။ ( သို့ရာတွင် မည်သို့ဖြစ် စေ ဤအချက်အတွက် သက်သေ အထောက်အထားများကား ရှိရမည်ဖြစ်လေ သည်။ သို့ရာ တွင် စောင့်ရသည်နှင့်အမျှ စိတ်မရှည်နိုင်ဖြစ်လာခဲ့လေပြီ။ ဤသို့ သော အိပ်မပျော်သည့်ညများ၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် အိပ်ရာထဲ တွင် လဲလျောင်းရင်း မိမိ အပြစ်တင်ခဲ့သော လူငယ်ဗိုလ်ချုပ်များကဲ့သို့ပင် စိတ် မ ရှည်နိုင်ဖြစ်လျက် ရှိလေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ၎င်း၏လက်ထောက် လူငယ်ဗိုလ်ချုပ်များ နည်းတူ ပေါ်ပေါက်လာနိုင်ဖွယ်ရှိသော

အခက်အခဲ အကျပ် အတည်းများကို တွေးလျက်ရှိလေသည်။ သို့ရာတွင် ခြားနားချက်ကား ရှိပါသည်။ ယင်းမှာ-လူငယ်ဗိုလ်ချုပ် များက အခက်အခဲ အကျပ်အတည်း နှစ်ခုသုံးခုလောက် ကိုသာ မြင်၍ ၎င်းကမူ အခက်အခဲ ထောင်ပေါင်းများစွာကို မြင်ခြင်းပင် ဖြစ်လေသည်။ ရေရှည်ကို မျှော်တွေးမိသည် နှင့် အမျှ အခက်အခဲအကျပ်အတည်းများကို ပို၍ တွေ့လာ ရလေသည်။ စစ်သေနာပတိ ကူတူဇော့ဗ်သည် နပိုလီယန် ၏စစ်တပ်ကြီးကို တစ်ခုလုံး အနေဖြင့်လည်း ခြုံ၍ စဉ်းစား ခြင်းပြု၏။ အစိတ်အပိုင်းကလေးများအဖြစ်လည်း ခွဲခြမ်း စိတ်ဖြာ၍ စဉ်းစားခြင်းပြု၏။ ပီတာစဘတ်မြို့တော်ကို တိုက်ခိုက်သည့် အနေအထားဖြင့်သော်လည်းကောင်း၊ မိမိတို့ နှင့် ဆန့်ကျင်၍သော်လည်းကောင်း၊ မိမိကို ညှပ်ပိတ် - တိုက်ခိုက်သည့် အနေအထားဖြင့် သော်လည်းကောင်း အမျိုးမျိုး စဉ်းစားခြင်းပြုသည်။ နပိုလီယန်သည် မိမိကဲ့သို့ပင် “အချိန်”နှင့် “စိတ်ရှည် ခြင်း”ဟူသော လက်နက်ကို ကိုင်ဆွဲ၍ မိမိအား တိုက်လေမည်လော။ (ဤသည် ကို စစ်သေနာ ပတိချုပ် ကူတူဇော့ဗ် အကြောက်ဆုံးဖြစ်သည်။) မော်စကိုမှ စိမ်ပြေနပြေစောင့်၍ မိမိကို တိုက်လေမည်လောဟုလည်း စဉ်းစားမိ၏။ ထို့မျှမက နပိုလီယန်၏ စစ်တပ်ကြီးသည် မေဒင်နှင့် ယုနော့ဒေသတို့ကိုဖြတ်၍ မြောက်ဘက် သို့ ဝိုင်းပတ်ပြီးမှ မိမိကို ညှပ်ပိတ်လေမည်လောဟူ၍ပင် စဉ်းစားမိသေးသည်။ သို့ရာတွင် တကယ်ဖြစ်လာသည့် အချက်တစ်ချက်ကိုကား စစ်သေနာပတိချုပ် ကူ တူဇော့ဗ် မတွေးမိချေ။ ယင်းမှာ အခြားမဟုတ်။ နပိုလီယန်၏စစ်တပ် ကြီးသည် (မိမိ ထင်ထားသကဲ့သို့ တစ်ခုမျှမဟုတ်ဘဲ) မော်စကိုမှဆုတ်ခွာလာပြီးနောက်ဆယ့် တစ်ရက်အတွင်း၌ နွားရိုင်းအုပ်ကြီးတစ်အုပ်ကဲ့သို့ သွေးရူးသွေးတန်း ပြေးလွှား လှုပ်ရှားလျက်ရှိခြင်းပင် ဖြစ်လေသည်။ ပြင်သစ်တို့၏ လုံးဝပြိုကွဲပျက်စီးခြင်း ဟူသော စစ်သေနာပတိချုပ် ကူတူ ဇော့ဗ် တွေးပင်မတွေးရဲသည့်အခြေသို့ ဆိုက်ရောက်စေခဲ့ သည့် ကယောင်ကတမ်း လှုပ်ရှားမှုကြီးပင် ဖြစ်လေသည်။ ဤ

အချက်ကိုကား စစ်သေနာပတိချုပ် မစဉ်းစားမိချေ။ ပြင်သစ်ဗိုလ်ချုပ် ဘရိုးဗီး ယား၏ တပ်မကြီးနှင့် ပတ်သက် သော ဗိုလ်ချုပ်ဒိုရိုကော့ဗ်၏ သတင်းပို့ချက်၊ နပို လီယန် ၏စစ်တပ်များ စိတ်ဓာတ်ကျဆင်းလျက်ရှိပြီဆိုသော ပြောက်ကျားတပ် များ၏သတင်းပို့ချက်၊ မော်စကိုမှ ဆုတ် ခွာရန် ပြင်ဆင်လျက်ရှိပြီဆိုသော ကောလာဟလ သတင်း များ၊ အားလုံးက ပြင်သခ်တပ်ကြီးသည် အရေးနိမ့်ကာ ထွက်ပြေးရန် ပြင်လျက်ရှိပြီဆိုသည့် "ထင်ကြေး" ကို အတည်ပြုလျက် ရှိလေ သည်။ သို့ရာတွင် ဤသည်မှာ "ထင်ကြေးမျှသာဖြစ်၍ လူငယ်ဗိုလ်ချုပ်များ အတွက် အရေး ကြီးလျက် ရှိသော်လည်း စစ်သေနာပတိချုပ် ကူတူဇော့ဗ် အဖို့ ကား ဘာမျှတန်ဖိုးမရှိချေ။ ကောလာဟလ သတင်း တို့ကို မည်မျှသာ တန်ဖိုးထား ရမည် ဆိုခြင်းကို လည်း ကောင်း၊ တစ်စုံတစ်ရာကို ဖြစ်စေချင်သူတို့သည် ၎င်းတို့ ဖြစ်စေချင်သောအရာနှင့် ကိုက်ညီသည့် သတင်းများကို စုဆောင်းထားလေ့ ရှိခြင်း ကို လည်းကောင်း၊ မိမိတို့ ဖြစ် စေချင်သောအရာနှင့် ကိုက်ညီခြင်း မရှိသည့် သတင်းများ ကိုမူ ပြောဆိုခြင်း မပြုကြတော့ဘဲ ချန်လှပ်ထားလေ့ရှိခြင်း ကို လည်းကောင်း စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စစ်မှုထမ်းသက် အနှစ် ခြောက်ဆယ်၏ အတွေ့အကြုံအရ  သိခဲ့ပြီး ဖြစ်လေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် အရာတစ်ခုကို ဖြစ်စေလိုသည့် ဆန္ဒပြင်းသည်နှင့် အမျှ မဖြစ် နိုင်သည့် ဘက်ကချည်း ပြောင်းပြန်တွေး ယူလေ့ရှိသည်။ မိမိဖြစ်စေလိုသည့် အတိုင်း ဖြစ်လာလိမ့် မည်ဟု မည်သည့်အခါမျှ မိမိကိုယ်ကို မိမိ ယုံကြည်ခွင့် မ ပေးချေ။ သို့ဖြင့် ထိုပြဿနာကြီးသည် စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ စိတ် တန်ခိုးသတ္တိ အားလုံးကို လွှမ်းခြုံဖုံး အုပ်လျက် ရှိလေသည်။ ထိုပြဿနာမှ လွဲလျှင် အခြားအရာ များသည် သာမန်လုပ်ရိုးလုပ်စဉ်များဟုသာ သဘောထား လေသည်။ စစ်ဦးစီးဌာနချုပ် အရာရှိများနှင့် ဆွေးနွေးခြင်း၊ တာရူတီနိုမှနေ၍ မိမိ၏ "မိတ်ဆွေ" အမျိုးသမီးကြီး မဒမ်ဒီစတေးလ်ထံ စာရေးခြင်း၊ ဝတ္ထုဖတ်ခြင်း၊ ဆု

တော် လာဘ်တော်များ ချီးမြှင့်ခြင်း၊ ပီတာစဘတ် ရွှေနန်းတော် ကြီးသို့ အစီရင်ခံရခြင်း စသည့် ကိစ္စတို့သည် ပြင်သစ်တို့ တကယ်ပင် သေလောက်သော ဒဏ်ရာရသလော၊ မရ သလောဆိုသော ပြဿနာကြီးနှင့် စာလျှင် သာမန်ကိစ္စ များသာ ဖြစ်လျက် ရှိလေသည်။ သို့ရာတွင် ပြင်သစ်တို့ ဖရိုဖရဲဖြစ်နေသည် ဆိုသည်မှာ တကယ်ပင်လော၊ သို့တည်း မဟုတ် မိမိစိတ်က ဖြစ်စေချင်သည့် အရာလော။

အောက်တိုဘာလ ၁၁-ရက်နေ့ညဦး စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် ကိုယ်တစ်စောင်းလှဲကာ ထို အခြင်းအရာများကို စဉ်းစားလျက် ရှိလေသည်။

ကပ်လျက်အခန်းမှ လှုပ်လှုပ်ရွရွ အသံများနှင့်အတူ ဗိုလ်ချုပ် တိုးလ်၊ ဗိုလ်ချုပ် ကိုနိုနစ်ဆင်နှင့် ဘိုကိုဗီတီနော့ဗ် တို့၏ ခြေသံများကို ကြားရသည်။ ။

"ဟော့၊ ဘယ်သူတွေလဲဟော့။ လာကြ၊ လာကြ။ ဘာသတင်းထူးလို့လဲကွ" စစ်သေနာပတိချုပ် ကူတူဇော့ဗ် က ၎င်းတို့ကို လှမ်းခေါ်လိုက်သည်။

တပ်လုလင် တစ်ယောက်က ဖယောင်းတိုင် တစ်တိုင်ကို ထွန်းလျက်ရှိစဉ်" ဗိုလ်ချုပ်တိုးလ်က သတင်း ကို အတိုချုပ် အစီရင်ခံလျက်ရှိသည်။ ။

"ဒီသတင်းကို ဘယ်သူက ပြောသလဲ" ဗိုလ်ချုပ် ကူတူဇော့ဗ်က မေးလိုက်သည်။ ဖယောင်းတိုင်မီးရောင် အောက်တွင် စစ်သေနာပတိချုပ် ကူတူဝေ့ဗ်၏ မျက်နှာ သည် အေးစက်တင်းမာလျက်ရှိခြင်းကို ဗိုလ်ချုပ် တိုးလ် သတိပြုလိုက်မိသည်။

"သေချာပါတယ် ဗိုလ်ချုပ်"

"ကဲ ခေါ်လိုက်စမ်း၊ ခေါ်လိုက်စမ်း" • စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ခြေထောက် တစ်ဖက်ကို ခုတင်ပေါ်မှ တွဲလောင်းချ၍ ထထိုင်လိုက် သည်။ ၎င်း၏

စူထွက်လျက်ရှိသော ဝမ်းဗိုက်ကြီးသည် ကွေးထားသော အခြားခြေထောက် တစ်ဖက်ပေါ်တွင် အိကျလျက်ရှိ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် အကောင်းပကတိကျန်နေသော မျက်လုံးတစ်ဖက်ကို မှေး၍ ဆက်သားကို သေချာ စွာ ကြည့်လိုက်၏။ ဆက်သား၏ စိတ်တွင် မည်သို့ရှိသနည်းဟု အကဲခတ်လျက် ရှိ သယောင် ထင်ရသည်။

"ကဲ၊ ပြောစမ်းပါဦးကွ" စစ်သေနာပတိချုပ် ကူတူဇော့ဗ်က ၎င်း၏ တိမ် ဝင်နေလျက်ရှိသော သက်ရွယ် ကြီးသူတို့၏ အသံမျိုးဖြင့် ပြောလိုက်ပြီး ၎င်း၏ ရင်ဘတ် ဟပြဲဖြစ်နေသော ရှပ်အင်္ကျီကို ဆွဲစေ့လိုက်သည်။

"ကဲ၊ ရှေ့နားကို တိုးစမ်းပါဦး။ ရှေ့နားကို။ ဘာသတင်းတွဲလဲကွ။ ဘာ။ နပိုလီ ယန် 'မော်စကိုက ဆုတ်သွားပြီ၊ ဟုတ်စ။ သေချာရဲ့လား။ ဟေ"

ဘိုကိုဗီတိနော့ဗ်က မိမိအား မှာကြားလိုက်သမျှကို အစမှအဆုံး အသေးစိတ် အစီရင်ခံခြင်းပြုသည်။

"တိုတိုပြောစမ်းပါကွယ်။ တိုတိုပြောစမ်းပါ။ ငါ့ကို ညှဉ်းဆဲမနေစမ်းပါ နဲ့"စစ်သေနာပတိချုပ် ကူတူဇော့ဗ်က ကြားဖြတ်ပြောလိုက်သည်။ ။

ဘိုကိုဗီတီနော့ဗ်သည် တစ်လုံးမကျန်ပြောပြပြီး နောက် တိတ်ဆိတ်သွား ကာ ညွှန်ကြားချက်များကို စောင့် လျက်ရှိလေသည်။ ဗိုလ်ချုပ်တိုးလ်က တစ်စုံတစ်ရာ စပြော သည်တွင် စစ်သေနာပတိချုပ်က ဟန့်လိုက်၏။ စစ်သေနာ ပတိချုပ်သည် တစ်စုံတစ်ရာကို ပြောရန် ကြိုးစားကြည့် ၏။ သို့ရာတွင် ၎င်း၏မျက်နှာသည် ရုတ်တရက် ရှုံ့တွ ကာ မဲ့လာခဲ့လေပြီ။ ထို့နောက် ဗိုလ်ချုပ် တိုးလ်အား တခြားသို့သွားရန် လက်ဇော့ယမ်းပြလိုက်ကာ နောက်ကျော အခန်းနံရံ ဘက်သို့ လှည့်လိုက်သည်။ ဘုရားစင်ကွယ်လျက် ရှိသဖြင့် အခန်းထောင့်သည် မှောင်လျက်ရှိလေသည်။

"ထာဝရဘုရားသခင် ကိုယ်တော်မြတ်ကြီးဘုရား။ တပည့်တော်တို့ ဆုတောင်းပြည့်ပါပြီ ဘုရား"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် လက်နှစ်ဖက် ကို ပိုက်ထားကာ တုန်ယင်သောအသံဖြင့် ဆိုလျက်ရှိသည်။

"ရုရှားပြည်ကြီး လွတ်မြောက်ပါပြီဘုရား။ ဘုရား သခင်၏ ဂုဏ်ကျေးဇူး တော်ကြောင့် ရုရှားနိုင်ငံကြီး လွတ် မြောက်ပါပြီ ဘုရား"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ငိုကြွေးလျက် ရှိလေသတည်း။

# အခန်း ၁၈

ထိုသတင်းကို ရသည့်အချိန်မှစ၍ တိုက်ပွဲစဉ်ပြီးဆုံးသည့် ကာလအထိ စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ လှုပ်ရှားမှု ဟူသမျှသည် အချည်းနှီးသော ထိုးစစ်တိုက်စစ်များ၊ စစ်ကစားမှုများကို မပြုလုပ်ရန်၊ ပြိုကွဲပျက်စီးလျက်ရှိသော ရန်သူနှင့် ရင်ဆိုင်တိုက်ပွဲ ဆင်နွှဲခြင်းမပြုရန် မိမိ၏တပ်များ အား ထိန်းချုပ်ထား ရေးကို ဦးတည်လုပ်ဆောင်ခဲ့လေသည်။ ဤသို့ လုပ်ဆောင်ရာ၌ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ် သည် အာဏာသုံး၍ တစ်သွယ်၊ ပရိယာယ်ကို သုံး၍ တစ်နည်း၊ တောင်းပန်၍တစ်ဖုံ စသည်ဖြင့် နည်းမျိုးစုံသုံး၍ လုပ်ဆောင်ခဲ့လေသည်။ ဗိုလ်ချုပ် ဒိုတူရော့ဗ်သည်မာလိုယာ ရိုစလက်သို့ ထွက်ခွာသွားပြီ ဖြစ်သော်လည်း စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်မှာမူ ပင်မစစ်တပ်ကြီးနှင့် ကျန်ရစ်ကာ ကာလူဂါမြို့ကို ရွှေ့ပြောင်းရန် အမိန့်ထုတ်လိုက်လေသည်။

ကာလူဂါမြို့ တောင်ဘက်သို့ ဆက်လက်ဆုတ်ခွာရေး ''ကိစ္စမှာ ဖြစ်နိုင်ဖွယ် ရှိသည်ဟု စစ်သေနာပတိချုပ် ကူတူ "ရော့ဗ် ယူဆသည်။ . . စစ်သေနာပတိချုပ်

ကူတူဇော့ဗ်သည် စစ်မျက်နှာ အသီးသီးမှ တပ်များကို ဆုတ်ခွာရန် အမိန့်ထုတ်ပြန် လျက် ရှိသည်။ သို့ရာတွင် ပြင်သစ်တို့သည်လည်း ရုရှားတို့၏ အဆုတ်ကို မစောင့် တော့ဘဲ ရုရှားတို့ ဆုတ်ခွာရာနှင့် မျက်နှာချင်းဆိုင်သို့ ထွက်ပြေးလျက် ရှိကြလေ သည်။

ပြင်သစ်ရာဇဝင်ဆရာများက တာရူတီနိုနှင့် မာလို ယာရိုစလက်ဒေသများ တွင် ပြုလုပ်ခဲ့သော နပိုလီယန်၏ ကျွမ်းကျင်သည့် စစ်ကစားမှုများကို ဖော်ပြကြ ကာ အကယ်" ၍သာ နပိုလီယန်သည် အစာရေစာ ပေါကြွယ်သော တောင်ပိုင်း ဒေသများသို့ အချိန်မီ ထိုးဖောက်ဝင်ရောက် သွားခဲ့ပါက အခြေအနေ မည်သို့မည်ပုံ ဖြစ်လိမ့်မည်ဟု ထင်ကြေးအမျိုးမျိုး ပေးခဲ့ကြသည်။

သို့ရာတွင် နပိုလီယန်အား အစာရေစာပေါကြွယ် သော တောင်ပိုင်းသို့ ထိုး ဖောက်ဝင်ရောက်ခြင်း မပြုနိုင်ရန် မည်သူကများ တားဆီးခဲ့ပါသနည်း။ (ရုရှား စစ်တပ်ကြီး သည် နပိုလီယန်၏ လမ်းကို ပိတ်ဆို့ထားခဲ့ခြင်းမရှိပါ။) တောင်ပိုင်းသို့ ထိုးဖောက်ဝင်ရောက်သွားလျှင်လည်း နပိုလီယန်၏ စစ်တပ်ကြီးကို ကယ်နိုင်မည် ထင်ကြသေး သလော။ နပိုလီယန်၏ စစ်တပ်ကြီးသည် ၎င်း၏ ဝမ်း ဗိုက်ထဲတွင် မ ရှောင်မလွှဲသာ ပျက်စီးရတော့မည့် သန္ဓေ ပါလာပြီးဖြစ်သည့်အလျောက် သိကြားမင်းကြီး နားကင်း ဖြင့် ဆင်းလာ၍ ကယ်သော်မှ ကယ်တင်၍မရပြီ ဆို သည့် အချက်ကိုမူ ရာဇဝင်ဆရာများ မေ့လျော့လျက် ရှိကြလေ သည်။ မော်စကို မြို့တွင် စားနပ်ရိက္ခာတို့ အလျှံပယ် တွေ့ပါလျက် ၎င်းတို့ကို သိမ်းဆည်းသိုမှီးထား ရမည့်အစား ခြေဖြင့် နင်းချေပစ်ခဲ့သော ပြင်သစ်စစ်တပ်ကြီး၊ စမိုးလင့်သို့ အ ရောက်တွင် ရိက္ခာပစ္စည်းကို သိုလှောင်ထားရမည့်အစား လုယက်ဖျက်ဆီးခဲ့သော ပြင်သစ်စစ်တပ်ကြီး။ ထိုစစ်တပ် ကြီးသည် မော်စကိုမြို့တွင် နေထိုင်ခဲ့သော ရုရှား တို့ကဲ့သို့ သော ရုရှားလူမျိုးများနေထိုင်ရာ မော်စကိုမှ မီးကဲ့သို့ ရှို့သမျှပစ္စည်းကို အကုန်လောင်နိုင်စွမ်းရှိသော မီးရှိရာ တောင်ပိုင်းကာလူဂါဒေသသို့ ရောက်၍ကော

နာလန်ထနိုင် ပါဦးမည်လော။ ကာလုဂါဒေသက ရုရှားကကော ရုရှား မဟုတ်ပြီလော။ ကာလူဒေသက မီးကကော လောင်နိုင် စွမ်း မရှိပြီလော။

ထိုစစ်တပ်ကြီးသည် မည်သည့်နေရာ ရောက် ရောက် နာလန်ထနိုင်တော့မည် မဟုတ်ချေ။ ဘိုရိုဒီနို တိုက်ပွဲဖြစ်ပွားပြီးသည့်နောက်နှင့် မော်စကိုမြို့ကို လုယက် ဖျက်ဆီးပြီးသည့်နောက်တွင် ပျက်ကွယ်ပခြင်းဟူသော အနိစ္စတာ ရုပ်သည် ထိုစစ်တပ်ကြီး၌ မှီတွယ်ခဲ့လေပြီ။

နပိုလီယန်ကိုယ်တိုင်နှင့် ၎င်း၏စစ်သားများတည်း ဟူသော တစ်ခါက စစ်တပ်ကြီးတစ်တပ်အဖြစ် ပေါင်းစည်း ခဲ့သူများသည် မိမိတို့စိတ်တွင် ဝိုးတဝါး ထင်လာသော ခိုကိုးရာမဲ့အခြေအနေမှ လျင်မြန်နိုင်သမျှ လျင်မြန်စွာ လွတ်မြောက်ရေးကိုသာ စိတ်စောလျက်ရှိကြကာ မည်သည့် နေရာဌာနဟူ၍ မခွဲခြားကြတော့ဘဲ ခြေဦးတည့်ရာသို့ ထွက်ပြေးလျက် ရှိကြလေသည်။  ထို့ကြောင့် ပင်လျှင် မာလိုယာရိုစလိုဗက်တွင် နပိုလီယန်၏ စစ်ဦးစီးဌာနချုပ် အရေးပေါ် အစည်းအဝေး ကျင်းပ၍ စစ်ဗိုလ်ချုပ်များက ထင်မြင်ချက်အမျိုးမျိုးကို ထုတ်ဖော်ဆွေးနွေးဟန်ဆောင်လျက် ရှိကြချိန်၌ နားကြား ပြင်းကတ်လာဟန်တူသော လူဖြောင့်စိတ်တို စစ်သားကြီး တစ်ဦးဖြစ်သူ ဗိုလ်ချုပ်မိုတန်က “ယခုအချိန်သည် စကား များများပြောရန် အချိန်မဟုတ်။ မိမိတို့လုပ်ရမည့် တစ်ခု တည်းသောအရာမှာ ဤနေရာမှ မြန်နိုင်သမျှ မြန်မြန် ထွက်ခွာသွားရန်သာ ဖြစ်သည်”ဟု ၎င်းတို့ အားလုံး စိတ်ထဲ တွင် ရှိနေသည့်အချက်ကို တစ်ခွန်းတည်း ပိတ်ပြောလိုက် သည်တွင် ပြင်သစ်ဗိုလ်ချုပ် အားလုံး ပါးစပ်ပိတ်သွားခဲ့ကြ သည် မဟုတ်လော။ ၎င်းတို့ အားလုံး အသိအမှတ်ပြုရသော ထိုအချက်ကို မည်သူမျှ မငြင်းနိုင်ဘဲ (နပိုလီယန်လည်း မငြင်းနိုင်တော့ပါ။) ပါးစပ်အဟောင်းသား ဖြစ်ခဲ့ကြသည် မဟုတ်လော။ . မိမိတို့အဖို့ မြန်မြန်ဆုတ်ခွာသွားရန် လိုသည် ဆိုသည့် အချက်ကို အားလုံးက

သဘောပေါက်ကြ သော်လည်း မိမိတို့ ဤအတိုင်း ထွက်ပြေးရတော့မည်ဟု ဝန်ခံရခြင်းကိုမူ ရှက်လျက်ရှိကြသေးသည်။ ထို့ကြောင့် ထိုအချက်ကို ဖုံးကွယ်ရန်အတွက် အကြောင်းပြချက်တစ်ရပ် လိုနေသေးရာ ထိုအကြောင်းပြချက်ကိုလည်း အချိန်မီ တွေ့လိုက်ကြလေသည်။ ထိုအကြောင်းပြချက်ကား "ဟူးရား"ဟု အော်လိုက်သော ရုရှားတို့၏ တိုက်ပွဲခေါ်သံ ပေတည်း။

မာလိုယာရိုစလက်တွင် စစ်ဦးစီးဌာနချုပ် အရေး ပေါ်အစည်းအဝေးကျင်းပပြီး နောက်တစ်နေ့၌ နပိုလီယန် သည် စစ်တပ်ကြီးကို စစ်ဆေးရန်နှင့် စစ်မြေပြင် အနေ အထားကို ကြည့်ရှုရန် အကြောင်းပြချက်ဖြင့် စစ်သူကြီးများ၊ ကိုယ်ရံတော်များ ခြံရံလျက် ၎င်း၏ တပ်စခန်းတစ်လျှောက် တွင် မြင်းဖြင့် လှည့်လည်ကြည့်ရှုခြင်းပြု၏။ ဤတွင် နပိုလီယန်သည် လက်ရပစ္စည်းသိမ်းရန် ချောင်းလျက် ရှိသော ကော့ဆက်မြင်းတပ်များနှင့် ပက်ပင်းသွားတိုးကာ အဖမ်းခံရလုဆဲဆဲ ဖြစ်ခဲ့၏။ ထိုစဉ်က ကော့ဆက် မြင်း တပ်သားတို့၏ ဖမ်းဆီးခြင်းကို မခံခဲ့ရခြင်း အတွက် ရှာကြံကျေးဇူးတင်ရမည်ဆိုလျှင် ကျေးဇူးတင်ရမည့်အရာမှာ အခြားမဟုတ်။ ပြင်သစ်စစ်တပ်ကြီးကို ပျက်စီးစေခဲ့၍  ကော့ဆက်မြင်းတပ်သားတို့ ခုံမင်မက်မောလေ့ရှိကြသော လက်ရပစ္စည်းများပင် ဖြစ်လေသည်။ တာရူတီနိုတိုက်ပွဲ၌ ကော့ဆက်မြင်းတပ်သားများသည် ပြင်သစ်စစ်သားများကို ဘာမျှမလုပ်ကြဘဲ ပစ္စည်းများကိုသာ အတင်းဝင်လုကြ သည်။ ၎င်းတို့က နပိုလီယန်ကိုလည်း အရေးမထားကြဘဲ ပစ္စည်းများကိုသာလိုက်၍ လုလျက်ရှိချိန်တွင် နပိုလီယန် သည် သီသီကလေး လွတ်လာခဲ့ခြင်း ဖြစ်လေသည်။

"ဒွန်မြစ်၏ သားငယ်များ´က နပိုလီယန်အား ၎င်း၏ စစ်တပ်ကြီးအလယ်တွင် ကြက်ကလေး၊ ငှက် ကလေးဖမ်းသည့်နှယ်ရှိအောင် ဖမ်းနိုင်သည့်အခြေအနေမျိုးသို့ ရောက်နေပြီဆိုပါက ပြင်သစ်စစ်တပ်ကြီးအဖို့ အနီးဆုံး အတိုဆုံးလမ်းအတိုင်း အမြန်ဆုံးထွက်ပြေးရန်မှ တစ်ပါး တခြားနည်း မရှိသည်မှာ ထင်ရှားလျက်

ရှိလေပြီ။ နပိုလီယန်သည် ဤအချက်ကို ၎င်း၏ (ယခင် ရှိမြဲဖြစ်သော တက်ကြွစိတ်၊ ရဲရင့်စိတ်တို့ဖြင့် မဟုတ်ဘဲ)အနှစ်လေးဆယ် ရှိပြီဖြစ်သော ဝမ်းဗိုက်ဖြင့် သိလိုက်လေပြီ။ ကော့ဆက် မြင်းတပ်များနှင့် ပက်ပင်းတိုးခဲ့မိပြီးသည့်နောက် ယခုတိုင် ကြောက်စိတ်အရှိန် မကုန်သေးသည့် နပိုလီယန်သည် ဗိုလ်ချုပ် မိုတန်၏ အဆိုပြုချက်ကို ချက်ချင်းသဘော တူကာ(ရာဇဝင်ဆရာများ၏အဆိုအရ) စမိုးလင့် ပေတစ်ရာ လမ်းဟောင်းအတိုင်း ဆုတ်ခွာရန် အမိန့်ထုတ်လိုက်လေ သည်။

နပိုလီယန်က ဗိုလ်ချုပ်မိုတန်နှင့် သဘောတူလိုက် ပြီး စစ်တပ်ကြီး ဆုတ်ခွာလာပြီဆိုခြင်းကြောင့် ဆုတ်ခွာရေး သည် နပိုလီယန်ကြောင့် ဖြစ်ရသည်ဟု အဓိပ္ပာယ်မထွက် ချေ။ နပိုလီယန် ဤသို့လုပ်ရခြင်းမှာ ပြင်သစ်စစ်တပ် ကြီးကို ချုပ်ကိုင်ထား၍ ၎င်းအား စမိုးလင့် ပေတစ်ရာ လမ်းအတိုင်း မောင်းနှင်လျက်ရှိသော အင်အားစုများသည် တစ်ပြိုင်နက်တည်းမှာပင် နပိုလီယန်အပေါ်သို့ သက်ရောက်ချုပ်ကိုင်လျက်ရှိသောကြောင့်သာ ဖြစ်ပေသည်။

# အခန်း ၁၉

ရွေ့ လျားလျက်ရှိသော လူတစ်ယောက်၌ သို့ရွေ့လျားရခြင်း အတွက် ရည်မှန်းချက်တစ်ခု အမြဲထားရလေသည်။ မိုင် တစ်ထောင်အဆုံးတွင် မိမိအဖို့ ကောင်းကျိုးတစ်စုံတစ်ရာ  ရှိသည်ဟု ယူဆထားမှသာလျှင် မိုင်တစ်ထောင်ခရီးကို သွားနိုင်လေသည်။ "လိုတရ"သော ဘုံဗိမာန်တစ်ခုကို မြင်မှသာလျှင် ရွေ့လျားနိုင်သောခွန်အား ရှိလေသည်။

ပြင်သစ်တို့ ချီတက်လာခဲ့စဉ်က ၎င်းတို့ မျှော်မှန်း ရာ "လိုတရ" ဘုံဗိမာန်သည် မော်စကိုမြို့ ဖြစ်ခဲ့၏။ ဆုတ်ခွာသွားသောအခါ၌ ၎င်းတို့၏ "လိုတရ" ဘုံဗိမာန် သည် ၎င်းတို့၏ ဇာတိမြေဖြစ်သော ပြင်သစ်ပြည် ဖြစ် လေသည်။

သို့ရာတွင် ထိုဇာတိဌာနေသည် ဝေးလွန်း လှ၏။ မိုင်တစ်ထောင်ခရီး သွားလျက်ရှိ သူတစ်ဦးအဖို့ "ယနေ့ ငါသည် မိုင်လေးဆယ် ခရီးကို အရောက်သွားအံ့" ဟုဆိုကာ မိမိ၏ နောက်ဆုံးပန်းတိုင်ကို ခေတ္တဘေးချိတ် ထားရမည်ဖြစ်၏။ပထမနေ့ ခရီး တစ်လျှောက်လုံး၌ ည အိပ်တည်းခိုစခန်းသည် ၎င်း၏ နောက်ဆုံးပန်းတိုင်ကို ခေတ္တအားဖြင့် ဖုံးလွှမ်းသွားကာ ၎င်း၏ နောက်ဆုံးပန်းတိုင် သို့ အရောက်သွားလို သော ဆန္ဒများ၊ မျှော်လင့်ချက်များကို ပြင်းပြထက်သန်လာစေ၏။ သို့ဖြင့် လူတစ် ယောက်၏ စိတ်တွင် ဖြစ်ပေါ်ခံစားချက်တို့သည် လူအုပ်ကြီးတစ်အုပ် တွင်လည်း အမြဲတမ်း "အကွာကြီး"၍ ဖြစ်ပေါ်လာတတ် လေသည်။ အကြီးအငယ်သာ ကွာ လေသည်။ ။

စမိုးလင့်ပေတစ်ရာလမ်းဟောင်းအတိုင်း ဆုတ်ခွာ လျက်ရှိသော ပြင်သစ်တို့ အဖို့ နောက်ဆုံးပန်းတိုင်ဖြစ်သော ဇာတိပြင်သစ်ပြည်သည် အလွန်ဝေးကွာ၏။ ၎င်းတို့၏ လောလောဆယ်ပန်းတိုင်သည် စမိုးလင့် ဖြစ်လေသည်။ ၎င်းတို့၏ဆန္ဒ များ၊ မျှော်လင့်ချက်များ အားလုံးသည် လူထုတစ်ခုအဖြစ် စုစည်းမိသောအခါ ပို၍ သိပ်သည်းစွာ ဖြစ်ပေါ်လာကာ ၎င်းတို့အား စမိုးလင့်သို့ မောင်းပို့လျက် ရှိလေ သည်။ စားနပ်ရိက္ခာများ တပ်သားသစ်များ စမိုးလင့် တွင် ရနိုင်သည်ဟု ထင်၍ကား မဟုတ်ချေ။ ထိုသို့ရှိသည် ဟုလည်း မည်သူကမျှ ပြောထားခြင်း မရှိ ချေ။ (ပြောထား ခြင်း မရှိရုံမျှမက စမိုးလင့်တွင် ရိက္ခာများ ရှားပါးလျက် ရှိသည်ဆို ခြင်းကို အထက်တန်းအရာရှိများနှင့် နပိုလီယန် ကိုယ်တိုင် သိကြပါသည်။) စမို လင့်သို့ ဆုတ်ခွာခြင်းဖြင့် သာလျှင် ၎င်းတို့တွင် ရွေ့လျားနိုင်သော ခွန်အားရှိမည်။ လက်ရှိဆင်းရဲဒုက္ခအပေါင်းကို ခံနိုင်မည်ဟု ယူဆသော ကြောင့် ထိုသို့ ဆုတ်ခွာ လျက် ရှိခြင်းသာ ဖြစ်လေသည်။ သို့ဖြင့် ဤအချက်ကို သိသူရော မသိသူပါ နှစ်ဦး စလုံးသည်  ၎င်းတို့ကိုယ်ကို လိမ်ကာ "လိုတရ" ဘုံဗိမာန်ကြီးတစ်ခု ဆီသို့ သွား သည့်နှယ် စမိုးလင့်သို့ အတင်းတိုးဝှေ့သွား လျက် ရှိကြလေသည်။

ပေတစ်ရာလမ်းမကြီးပေါ်သို့ ရောက်လာသည့် အခါ၌ကား ပြင်သစ်တို့သည် အံ့သြစရာကောင်းသော ခွန်အား၊ မကြားဖူးသော လျင်မြန်မှုဖြင့် ၎င်းတို့သတ်မှတ်ထားရာ ပန်းတိုင်သို့ အရောက်ပြေးလျက်ရှိကြလေသည်။ ပြင်သစ်စစ်သားအုပ်ကြီး တစ်ခုလုံးကို ထုကြီးတစ်ခုအဖြစ် စုစည်းထားနိုင်ခြင်းမှာ ၎င်းတို့အသီးသီး၌ တူညီသော ရည်မှန်းချက်ရှိခြင်းကြောင့်ဖြစ်၏။ ထို့ကြောင့်ပင် တစ်စုံ တစ်ခုသော ခွန်အားကို ရရှိနေကြခြင်း ဖြစ်၏။ ထို့ပြင် ၎င်းတို့အား ယခုကဲ့သို့ စုစည်းစေနိုင်သော အခြား အကြောင်းတစ်ရပ်လည်း ရှိပေသေးသည်။ ယင်းမှာ ၎င်း တို့၏ အရေအတွက်များပြားခြင်းပင် ဖြစ်လေသည်။ ဆွဲ ငင်ခြင်း ရူပဗေဒ နိယာမအတိုင်း ဖြစ်ပေါ်သကဲ့သို့ ၎င်း တို့၏ ကြီးမားလှသော ထုကြီးသည် လူအဏုမြူမှုန်ကလေး တစ်ခုစီ တစ်ခုစီကို လွင့်ထွက်မသွားအောင် ဆွဲငင်ထား လျက် ရှိလေသည်။ သို့ဖြင့် ရာထောင်များစွာသော ပြင်သစ်စစ်သားထုကြီးသည် လူမျိုးတစ်မျိုး ပြောင်းရွှေ့သွားသည့်နှယ် ရွှေ့လျားလျက် ရှိလေသည်။

ဤကြောက်မက်ဖွယ် ဘေးအန္တရာယ်ကြီးနှင့် ဆင်းရဲဒုက္ခအပေါင်းတို့မှ လွတ်မြောက်ရန်အတွက် ၎င်းတို့ အသီးသီးသည် လက်နက်ချ၍ သုံ့ပန်းအဖြစ် အဖမ်းခံလို ကြ၏။ သို့ရာတွင် ၎င်းတို့၏ ပန်းတိုင်ဖြစ်သည့် စမိုးလင့် တည်းဟူသော ဆွဲငင်ခြင်းအားသည် ၎င်းတို့အား ထို လားရာဘက်သို့ သက်ရောက်ရန် ဆွဲငင်ထား၏။ ဤကား တစ်ချက်ဖြစ်၏။ နောက်တစ်ချက်မှာ တပ်ဖွဲ့ တစ်ဖွဲ့ သည် တပ်ခွဲတစ်ခွဲထံတွင် လက်နက်မချနိုင်ချေ။ ပြင်သစ်စစ်သား များသည် တပ်မှ ကွဲကျန်ရစ်ခဲ့ရန် သိက္ခာရှိသော အကြောင်း ပြချက်တစ်ခုခုဖြင့် လက်နက်ချ အဖမ်းခံရန် အခွင့်အရေးကို စောင့်လျက်ရှိကြသော်လည်း ထိုအခွင့်အရေးကို မရခဲ့ကြ ချေ။ ထိုအကြောင်းများကြောင့် ၎င်းတို့သည် လက်နက်ချ လိုသော်လည်း လက်နက်ချ၍ မရဘဲ ဖြစ်လျက် ရှိကြလေ သည်။ ထိုသို့ လူအရေအတွက် များပြားခြင်း၊ လှုပ်ရှားမှု လျင်မြန်ခြင်းတို့ကြောင့် ၎င်းတို့အဖို့သာလျှင် လက်နက် ချရေးအတွက် အခက်အခဲ

ဖြစ်လျက်ရှိရုံမက ရုရှားတို့  အဖို့လည်း အားကုန်ပြေးလျက် ရှိသော ထိုလှုပ်ရှားမှုကြီးကို ရပ်တံ့ရန် အခက်အခဲကြုံလျက် ရှိလေသည်။ အရာဝတ္ထု တစ်ခု၏ ရပ်တို့ ပျက်စီးခြင်းသည် တစ်စုံတစ်ခုသော အတိုင်းအတာအတွင်း၌သာ ဓာတ်အစုအဝေးတို့၏ ပြိုကွဲ ချုပ်ငြိမ်းခြင်းဖြစ်စဉ်ကို လျင်မြန်စေနိုင်သော်လည်း ထို အတိုင်းအတာမှ ကျော်လွန်လျှင် ဓာတ်အစုအဝေးတို့ ချုပ် ငြိမ်းခြင်း ဖြစ်စဉ်ကို လျင်မြန်စေခြင်းငှာ မတတ်နိုင်တော့ သကဲ့သို့တည်း။ ။

နှင်းခဲတစ်ခဲကို ချက်ချင်း အရည်ပျော်စေခြင်းငှာ မတတ်နိုင်ချေ။ တစ်စုံတစ်ခုသော အချိန်ကာလအတွင်း၌ သာ အရည်ပျော်နိုင်လေသည်။ ထို အချိန်ကာလထက် လျော့နည်းလျှင် မည်မျှအပူဓာတ် ပေးစေကာမူ ထိုနှင်းခဲ သည် အရည်ပျော်လိမ့်မည် မဟုတ်ချေ။ အရည်မပျော်ရုံမျှ မက အပူများလေလေ ကျန်ရှိသော နှင်းခဲသည် သိပ်သည်း လေလေ ဖြစ်မည်သာတည်း။

ရုရှားတပ်မှူးများ အားလုံးအနက် စစ်သေနာ ပတိချုပ် ကူတူဇော့ဗ် တစ်ဦးတည်းသာလျှင် ဤအချက်ကို ... သဘောပေါက်ပေသည်။ စမိုးလင့် ပေတစ်ရာလမ်းမကြီး တစ်လျှောက်၌ ပြင်သစ်စစ်တပ်ကြီး ဒရောသောပါး ထွက်ပြေးလျက်ရှိပြီဟု သေချာစွာ သိရသောအခါ၌ အောက်တိုဘာ ၁၁-ရက်နေ့ည က ဗိုလ်ချုပ်ကိုနိုနစ်ဆင် ကြိုတင်မှန်းဆခဲ့သော အချက်သည် သွေးထွက်အောင် မှန်လေပြီး အထက်တန်း အရာရှိများအားလုံးသည် “လူ စွမ်းကောင်းကြီး”တွေ လုပ်ချင်လာကြ၏။ ပြင်သစ်စစ်တပ် ကို ခါးမှ ဖြတ်တောက်လိုကြ၏။ သိမ်းပိုက်လိုကြ၏။

လက်ရဖမ်းလိုကြ၏။ တွန်းလှန်မောင်းထုတ်လိုကြ၏။ ၎င်းတို့အားလုံးသည် ထိုးစစ် တိုက်စစ်ပြုရန် ဆူညံစွာ တောင်းဆိုလျက် ရှိကြလေသည်။ ။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်တစ်ယောက် သာလျှင် ထိုးစစ် တိုက်စစ် ဆင်နွှဲခြင်း မပြုရန် ၎င်း၏ အာဏာကို အသုံးပြုလျက် ရှိလေသည်။ (စင်စစ်၌ စစ်သေနာပတိချုပ် တစ်ယောက်တွင် ထိုးစစ် တိုက်စစ် ဆင်နွှဲ ရေးကို ဟန့်တားရန် အတွက် အာဏာသုံးရသည်ဆိုသော် လည်း များများစားစား မသုံးနိုင်ပါ။)

"အဘယ့်ကြောင့် တိုက်ခိုက်နေရဦးမည်နည်း။ အဘယ့်ကြောင့် လမ်းကို ပိတ်ဆို့ထားဦးမည်နည်း။ ကိုယ့် တပ်သားကို အဘယ့်ကြောင့် အဆုံးရှုံးခံရဦးမည်နည်း။ ကံဆိုးသူ ဒုက္ခသည်များကို အဘယ့်ကြောင့် လိုက်သတ် နေရဦးမည်နည်း။ မော်စကိုမှ ဗျာဇမာသွားရာ လမ်း တစ်လျှောက်တွင် တိုက်ပွဲတစ်ပွဲ မရှိဘဲနှင့်ပင် ၎င်းတို့၏ စစ်တပ်ကြီး သုံးပုံတစ်ပုံ ပျက်စီးခဲ့ပြီ ဖြစ်ပါလျက် ထိုး စစ်ပြုနေ၍ မည်သို့အကျိုးများမည်နည်း"ဟု ဤအဖြစ် ကို ကြည့်၍ ကျွန်ုပ်တို့ နှောင်းလူများ က ယခုအချိန်၌ အလွယ်တကူ ပြောနိုင်ပါသည်။ သို့ရာတွင် စစ်သေနာ ပတိချုပ် တစ်ယောက်အဖို့ကား ရန်သူကို မတိုက်ရဟု အမိန့်ထုတ်ဖို့မပြောနှင့်၊ ဤသို့ပင် ပြောခွင့်မရှိပါ။ သို့တိုင် အောင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ၎င်း၏ ရင့်ကျက်သောဉာဏ်အမြော်အမြင်ဖြင့် ၎င်းတို့ နားလည် လက်ခံနိုင်လောက် အောင် ရှင်းပြအံ့ဟု ကြံလျက် အချိန်ကို စောင့်ဖို့လိုကြောင်း၊ စိတ်ရှည်ဖို့လိုကြောင်း ပြောခဲ့ပါသေး သည်။ သို့ရာတွင် ၎င်းတို့သည် စစ်သေနာပတိချုပ်ကူတူ ဇော့ဗ်အား ရယ်မောလှောင်ပြောင်ခဲ့ကြသည်တကား။ ပုတ် . ခတ်ဆဲရေးခဲ့ကြသည်တကား။ သေလုမြောပါး တိရစ္ဆာန် ကြီးကို ခုန်အုပ်ဆုတ်ဖြဲကာ ရွှင်လန်းအားရခဲ့ကြသည် တကား။

ဗိုလ်ချုပ် အာမိုလော့ဗ်၊ ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်၊ ဗိုလ်ချုပ် ပလာတော့ဗ် စ သည့် ဗျာဇမာရှိ ပြင်သစ်တို့ အနီးတစ်ဝိုက်တွင် ရောက်လျက်ရှိသော ရုရှား ဗိုလ်ချုပ်များ ' သည် ပြင်သစ်တပ်ဖွဲ့ကြီးနှစ်ဖွဲ့ အား ဖြတ်တောက်ရန်နှင့် ရိုက်ချိုး ရန် ဆန္ဒကို ချိုးနှိမ်ခြင်းငှာ မတတ်နိုင်ကြတော့ဘဲ ၎င်းတို့၏ ကြံရွယ်ချက်ကို

စစ်သေနာပတိချုပ်ထံ သတင်း ပို့သည့်အနေဖြင့် စာအိတ်တစ်လုံးတွင် ဗလာ စာရွက် တစ်ရွက်ကို ထည့်၍ စစ်သေနာပတိချုပ်ထံ အပို့လွှတ်လိုက် ကြချေသည် တကား။

စစ်သေနာပတိချုပ် ကူတူဇော့ဖ်သည် မိမိ၏ တပ်များအား ထိုးစစ်တိုက်စစ် ဆင်နွှဲခြင်း မပြုရန် အစွမ်း ကုန် ဟန့်တားခဲ့သော်လည်း ရုရှားတပ်တို့သည် အတင်း ဝင်တိုက်ကာ လမ်းကို ပိတ်ဆို့ခဲ့ကြလေသည်။ ခြေလျင် တပ်များသည် အိုးစည် ဗုံမောင်းတို့ဖြင့် ရှေ့တန်း စစ် မျက်နှာသို့ ထွက်ခွာသွားခဲ့ကြကာ ထောင်ပေါင်းများစွာ သော ရန်သူများကို သတ်ဖြတ်ခဲ့ကြ၍ ထောင်ပေါင်း များစွာ သော မိမိတပ်သားများကိုလည်း ဆုံးရှုံးစေခဲ့ကြလေ သည်။

သို့ရာတွင် ၎င်းတို့သည် မည်သူ့ကိုမျှ ဖြတ်တောက် ခြင်း မပြုခဲ့ကြ။ မည်သူ့ ကိုမျှလည်း တွန်းလှန်ခြင်း မပြု ခဲ့ချေ။ ပြင်သစ်စစ်တပ်ကြီးမှာမူ အန္တရာယ်ကျ ရောက် လာသည်၌ ပို၍ စုစည်းသိပ်သည်း သွားကာ တဖြည်းဖြည်း လုံးပါးပါးရင်း ဖြင့်ပင် စမိုးလင့်သို့ သွားရာ သေမင်းတမန် လမ်းမကြီးတစ်လျှောက်တွင် ဆက်လက်သွားမြဲသွားလျက်” ရှိပေသတည်း။

# အပိုင်း ၁၄

## အခန်း ၁

ဘိုရိုဒီနိုတိုက်ပွဲ ဖြစ်ပွားခြင်း၊ ၎င်းနောက် မော်စကိုမြို့ကို ပြင်သစ်တို့ သိမ်းပိုက်ခြင်း၊ နောက်ထပ် တိုက်ပွဲတစ်စုံ တစ်ရာ ဖြစ်ပွားခြင်းမရှိဘဲ ပြင်သစ်တို့ ထွက်ပြေးရခြင်း စသည်တို့သည် ရာဇဝင်တွင် သင်ခန်းစာယူဖွယ် အကောင်း ဆုံး အခြင်းအရာတစ်ရပ် ဖြစ်လေသည်။

နိုင်ငံအချင်းချင်း၊ လူမျိုးအချင်းချင်း ပဋိပက္ခဖြစ် ပွားလာသောအခါတွင် ထို ပဋိပက္ခများကို စစ်ပွဲများ ပုံသဏ္ဌာန်ဖြင့် ဖော်ပြလေ့ရှိကြပြီး စစ်ပွဲ၏ အနိုင်အရှုံးကို လိုက်၍ နိုင်ငံများနှင့် လူမျိုးများ၏ နိုင်ငံရေးအင်အား သည်လည်း အတက်အကျ ဖြစ်ကြရသည်။ ဤအချက်ကို ရာဇဝင်ဆရာများအားလုံးက သဘောတူကြ၏။

ဘုရင်တစ်ပါး သို့မဟုတ် ဧကရာဇ်တစ်ပါးသည် အခြားတစ်ပါးသောဘုရင်၊ သို့မဟုတ် ဧကရာဇ်နှင့် ခိုက် ရန် ဖြစ်ပွားပုံ၊ ထိုအခါ စစ်တပ်ကြီးတစ်တပ်ကို ဖွဲ့စည်း ၍ ရန်သူ၏ စစ်တပ်ကြီးကို တိုက်ပုံ၊ လူပေါင်းသုံးထောင်၊ ငါးထောင်၊ သို့မဟုတ် တစ်သောင်းကို သတ်ပြီးနောက် အောင်ပွဲရပုံ၊ ထိုနောက် စစ်ရှုံးဘုရင်၏ နိုင်ငံနှင့်တကွ သန်းပေါင်းများစွာသော စစ်ရှုံးလူမျိုးတစ်မျိုးကို သူ့ကျွန် အဖြစ် သွတ်သွင်းပုံ စသည်တို့ကို ရာဇဝင်ကျမ်းများတွင် ဖတ်ရသောအခါ၌ ကျွန်ုပ်တို့အဖို့ ထူးဆန်းသယောင်ယောင် ဖြစ်လျက် ရှိ၏။ လူမျိုးတစ်မျိုး၏ အပုံတစ်ရာပုံလျှင် တစ်ပုံ မျှသာ ရှိသည့် စစ်တပ်တစ်တပ် ရှုံးနိမ့်ကာမျှဖြင့် အဘယ့် ကြောင့် လူမျိုး တစ်မျိုးလုံးက လိုက်၍ ကျွန်ခံရမည်နည်းဟု နား မလည်နိုင်အောင် ဖြစ်ရ၏။

သို့ရာတွင် ဆန်ခါမှ ဆန်းရော၊ နားမလည်နိုင်ခါမှနေရော၊ စစ်တပ်ကြီးတစ်တပ် ၏ အနိုင်အရှုံးသည် လူမျိုးတစ်မျိုး၏ အင်အားအတိုး အဆုတ်ကိုဖြစ်စေသော အကြောင်းရင်း သို့မဟုတ် (အနည်း ဆုံး) အခြေခံအချက်ဖြစ်သည် ဆိုသည်မှာ ကား ယုံမှားဖွယ် မရှိချေ။ ဤအချက်ကို (ကျွန်ုပ်တို့သိသမျှသော) ရာဇဝင် အချက်အလက်များက အတည်ပြုပြီး ဖြစ်လေသည်။ စစ်တပ်ကြီးတစ်တပ်သည် အောင်ပွဲကို ရ၏။ ထိုသည်နှင့် တစ်ပြိုင်နက် ရှုံးနိမ့်သောလူမျိုးတွင် အကျိုးယုတ် ခြင်း ဖြစ်ရသလောက်အောင်နိုင်သော လူမျိုးတွင် အခွင့်အာဏာ များ တိုး၍လာခဲ့ လေပြီ။ စစ်တပ်ကြီးတစ်တပ်သည် ရှုံးနိမ့် ခဲ့ရ၏။ ထိုသည်နှင့် တစ်ပြိုင်နက် ဆုံးရှုံး မှု၏ ပမာဏကို လိုက်၍ ရှုံးနိမ့်သော လူမျိုးတွင် အခွင့်အရေးများ ဆုံးပါး ခဲ့၏။ အကယ်၍ ၎င်း၏ စစ်တပ်ကြီးက လုံးဝ အရေးနိမ့် ခဲ့ပြီဆိုလျှင်ကား ထိုလူမျိုးသည် သူ့ကျွန်အဖြစ် သွတ်သွင်း ခြင်း ခံရလေတော့သည်။

ရာဇဝင်အရပြောရလျှင် ရှေးပဝေဏီအကျဆုံးသော ကာလများကလည်း ဤအတိုင်းဖြစ်ခဲ့၍ ကျွန်ုပ်တို့ခေတ် တွင်လည်း ဤအတိုင်း ဖြစ်လျက်ရှိလေသည်။ နပိုလီယန် တိုက်ခဲ့သော စစ်ပွဲများ အားလုံးကလည်း ဤဥပဒေသ ကို အတည်ပြု လျက် ရှိလေသည်။ ဩစတြီးယားစစ်တပ် ကြီး အရေးနိမ့်ခဲ့ရသော ပမာဏကို လိုက်၍ ဩစတြေး ရီးယားလူမျိုးတို့၏ ပိုင်ခွင့်များသည် ဆုံးရှုံးခဲ့ရကာ ပြင်သစ် ပြည်၏ အင်အားနှင့် ပိုင်ခွင့်များသည် တိုးတက် များပြား လာခဲ့လေသည်။ ဂျီနာ နှင့် ဩစတပ်တိုက်ပွဲများတွင် ပြင်သစ်တို့ အောင်ပွဲခံခဲ့ခြင်းကြောင့် ပရပ်ရှား ပြည်၏ လွတ်လပ်အမှီခိုကင်းသော ရပ်တည်မှုသည် ပျက်စီးဆုံး ပါးခဲ့ရလေသည်။

သို့ရာတွင် ၁၈၁၂-ခုနှစ်၌ ပြင်သစ်တို့သည် မော် စကိုမြို့အနီးတွင် အောင်ပွဲ ကြီးတစ်ခုကို ရလိုက်ကြ၏။

မော်စကိုမြို့ကို သိမ်းပိုက်ခဲ့ကြ၏။ ထို့နောက်၌ကား (တိုက်ပွဲများ ဖြစ်ပွား ခြင်း မရှိတော့စေကာမူ) ပျက်စီး ဆုံးရှုံးသွားရသူမှာ ရုရှားပြည်ကြီးမဟုတ်ဘဲ လူ ပေါင်း ခြောက်သိန်းရှိသော ပြင်သစ်စစ်တပ်ကြီးနှင့် နပိုလီယန်၏ ပြင်သစ် နိုင်ငံတော်ကြီးကိုယ်တိုင် ဖြစ်လျက်ရှိလေသည်။ အဘယ်နည်း။ စစ်နိုင်သောလူမျိုး သည် အင်အားကြီးထွား လာကာ စစ်ရှုံးသောလူမျိုးသည် ပျက်စီးဆုံးရှုံးရမည်ဟူ သော ရာဇဝင်၏ ဥပဒေသနှင့် ကိုက်ညီပါသေးသလား။ ရာဇဝင်၏ ဥပဒေသများ နှင့် ကိုက်ညီအံကျအောင် အဖြစ် အပျက်များကို ပြောင်းပြန်လုပ်ပစ်၍ကား ရနိုင် မည် မဟုတ် ချေ။ ဘိုရိုဒီနိုတိုက်ပွဲတွင် စစ်တလင်းကို သိမ်းခဲ့သူမှာ (ပြင်သစ်များ မဟုတ်ဘဲ) ရုရှားများသာဖြစ်သည်။ သို့မဟုတ် မော်စကို သိမ်းပြီးနောက် တိုက်ပွဲ များဖြစ်ပွားသည့်အတွက် နပိုလီယန်၏ စစ်တပ်ကြီးပျက်စီးသွားသည်ဟု ရာဇဝင်၏ ဥပဒေသများနှင့် ကိုက်ညီအောင် အဖြစ်အပျက်များကို ပြောင်းပြန်လုပ် ပစ်ရန်မှာ လားလားမျှ မဖြစ်နိုင်ချေ။ ဘိုရိုဒီနိုတိုက်ပွဲတွင် ပြင်သစ်တို့ အောင်ပွဲရပြီး နောက် ရင်ဆိုင်တိုက်ပွဲကြီးများ သို့မဟုတ် ပြောစမှတ် ပြုလောက်သည့်တိုက်ပွဲ များ တစ်ပွဲမျှဖြစ်ပွားခြင်း မရှိတော့ ချေ။ သို့ရာတွင် ပြင်သစ်စစ်တပ်ကြီးကား အနိစ္စသဘော သို့ ရွေ့လျားသွားခဲ့လေပြီ။ ဤအခြင်းအရာသည် မည် သည့် အဓိပ္ပာယ်နည်း။ အကယ်၍ ဤအဖြစ်အပျက်သည် တရုတ်ပြည်က အဖြစ်အပျက် ဆိုလျှင် ရာဇဝင်တွင် စာဖွဲ့ လောက်သော အဖြစ်အပျက် မဟုတ်ဟု ကျွန်ုပ်တို့ ပြော နိုင်ပါသည်။ (ရာဇဝင်ဆရာများသည် ၎င်းတို့သတ်မှတ် ထားသော စံထား ချက်များနှင့် မကိုက်ညီလျှင် ဤစကား ကို လက်သုံးပြုတတ်ကြသည် မဟုတ် လော။) တစ်ဖန် အကယ်၍ ထိုအဖြစ်အပျက်သည် စစ်သားအရေအတွက် ကလေး အနည်းငယ်မျှဖြင့်သာ တိုက်သည့် စစ်ပွဲကလေး တစ်ခုဆိုလျှင်လည်း ၎င်းကို ခြွင်းချက်ကိစ္စတစ်ရပ်အဖြစ် သဘောထားနိုင်ပါသေးသည်။ ယခုကား ထိုသို့ မဟုတ် ဘဲ ထိုအဖြစ်အပျက်ကြီးသည် ကျွန်ုပ်တို့ဖခင်များ မျက်စိ ရှေ့တွင် ဖြစ်ခဲ့

သော အဖြစ်အပျက်ကြီးတစ်ရပ် ဖြစ်ရုံမျှမက ၎င်းတို့၏ အဖတိုင်းပြည်အတွက် သေရေးရှင်ရေး ပြဿနာ ကြီးတစ်ရပ်လည်း ဖြစ်ခဲ့ပါသည်။ သိရသမျှသော စစ်ပွဲ များတွင် အကြီးကျယ်ဆုံးစစ်ပွဲကြီးလည်း ဖြစ်ပါသည်။

စစ်ပွဲတစ်ပွဲအနိုင်ရခြင်းသည် လူမျိုးတစ်မျိုးကို အောင်နိုင်ခြင်းမဟုတ်ချေ။ အောင်နိုင်သည်ဟုပင် ပြော နိုင်သောအရာတစ်ခု မဟုတ်ချေ။ ပြည်သူများ၏ ကံကြမ္မာ ကို အဆုံးအဖြတ်ပြုသော အင်အားစုသည် အောင်နိုင်သူ အာဇာနည် တို့၌လည်း မတည်၊ စစ်တပ်ကြီးများနှင့် တိုက် ပွဲကြီးများ၌လည်း မတည်ဘဲ တစ်စုံတစ်ခုသောအရာ၌ သာ တည်လေသည်။ ဤအချက်ကို ဘိုရိုဒီနိုတိုက်ပွဲမှ ပြင်သစ်တို့ ထွက်ပြေးရသည်အထိဖြစ်သော ၁၈၁၂ ခုနှစ် တိုက်ပွဲစဉ်ကာလက သက်သေပြခဲ့လေသည်။

မော်စကိုမှ ထွက်ခွာခြင်း မပြုမီ ပြင်သစ်စစ်တပ် ကြီး၏ အခြေအနေကို ဖော်ပြရာ၌ ပြင်သစ်တို့၏ မဟာ စစ်တပ်ကြီးတွင် မြင်းတပ်၊ အမြောက်တပ်နှင့် ထောက်ပို့ တပ်များမှ လွဲလျှင် (မြင်းများနှင့် ဝန်တင်လှည်းဆွဲ တိရစ္ဆာန်များ အတွက် အစာရေစာ မရှိပါ။) အစစ အရာရာ ပြည့်စုံကောင်းမွန်လျက် ရှိသည်ဟု ပြင်သစ်ရာဇဝင်ဆရာ များက အတည်ပြုခဲ့ကြ၏။ (မြင်းများအတွက် အစာ မရှိ ခြင်းကား မည်သူမျှ ကယ်နိုင်သောကိစ္စ မဟုတ်ပါ။ ထိုဒေသရှိ လယ်သမားများက ၎င်းတို့၏ မြက်ခြောက် များ၊ ကောက်ရိုးများကို ပြင်သစ်တို့ လက်သို့ အရောက်ခံ မည့်အစား မီးရှို့ပစ်ခဲ့ကြသောကြောင့် ဖြစ်ပါသည်။) ထိုအောင်ပွဲသည် ရမြဲဖြစ် သော အကျိုးသက်ရောက် မှုများကို မပေးခဲ့ချေ။ အဘယ့်ကြောင့်ဆိုသော် (ပြင် သစ် တို့ မော်စကိုမှ ပြောင်းရွှေ့သွားကြပြီးနောက် မည်သည့် သူရဲကောင်း စိတ်ဓာတ်မျိုးကိုမှ ပြရန်မဟုတ်ဘဲ မြို့ကို လုယက်ဖောက်ထွင်းရန် လှည်းများဖြင့် ဝင်ရောက်လာကြ သော) လယ်သမား ဖြူးမည်း စသူတို့နှင့် မရေမတွက် နိုင် သော အလားတူ ၎င်းတို့ကဲ့သို့သော လယ်သမားထုကြီး တစ်ရပ်လုံးက

ဈေးကောင်းကောင်းရရန် မြက်ခြောက် များ၊ ကောက်ရိုးများကို ယူဆောင်လာကြ မည့်အစား ၎င်း တို့ကို မီးရှို့ပစ်ခဲ့ကြသောကြောင့် ဖြစ်လေသည်။

လူနှစ်ယောက်သည် ဓားသိုင်းကစားနည်း ဥပဒေ များနှင့်အညီ နှစ်ယောက် ချင်း ပြိုင်သတ်ရန်အတွက် ဆောင်ဓားကိုယ်စီနှင့် ထွက်လာခဲ့ကြ၏။ သို့ဖြင့် အချိန် အတော်ကြာ နှစ်ယောက် ဓားသိုင်းခုတ်ကြ၏။ ထိုအခိုက် တစ်ယောက်သည် မိမိ၌ ရန်သူဓားချက်ထိသွားပြီဟု ရုတ်တရက် သိလိုက်သည်။ ဤတွင် ဓားသိုင်းခုတ် ခြင်း သည် အပျင်းပြေကစားခြင်း မဟုတ်ဘဲ မိမိ၏ သေရေး ရှင်ရေး ပြဿနာ ဖြစ်ကြောင်းကို သိမြင်လာခဲ့ကာ မိမိ လက်မှ ဆောင်ဓားကို လွှတ်ချလိုက်ပြီး နောက် အနီးတွင် တွေ့သည့် တင်းပုတ်ကြီးကို ကောက်ဆွဲလျက် ဝှေ့ယမ်း ဝင်လာ ခဲ့သည်။ ထိုအခါတွင် ရန်သူကို အနိုင်ရရန် အကောင်းဆုံး၊ အလှဆုံး ဓား သိုင်းကစားသွားသည့် တစ်ဖက်လူကလည်း ဓားသိုင်းသမားတို့၏ အစဉ်အလာ သဘောထားကြီးမှုကို ပြလိုသည့်အတွက်ကြောင့် တစ် ကြောင်း၊ တစ်ဖက်က တင်းပုတ်ကြီးကို ကိုင်ကာ ဝင်လာ ခြင်းသည် စည်းကမ်းနှင့်မညီဟု ကန့်ကွက်လို သည့်အတွက် ကြောင့် တစ်ကြောင်း၊ မိမိသည် ဓားသိုင်းကစားနည်း ဥပဒေအရ ကြည့်လျှင် အနိုင်ရခဲ့ပြီဟု အကြောက်အကန် ပြောဆိုလျက် ရှိလေသည်။ ဤသို့ သော ဓားပွဲတစ်ပွဲ အကြောင်းကို ပြန်ပြောကြစတမ်းဆိုလျှင် သန်ရာသန်ရာ တစ် ယောက်တစ်မျိုးပြောကာ မည်မျှ သပွတ်အူလိုက်အောင် ရှုပ်ထွေးလျက် ရှိမည်ကို စဉ်းစားကြည့်က သိနိုင်ပါသည်။

ယခုကိစ္စ၌ ဓားသိုင်းကစားနည်း ဥပဒေများအရ ယှဉ်ပြိုင်ရမည်ဟု တောင်း ဆိုသူမှာ ပြင်သစ်စစ်တပ်ကြီး ဖြစ်၍ ဆောင်ဓားကို လွှတ်ချပြီး တင်းပုတ်ကို ကောက် ကိုင်သော တစ်ဖက်ရန်သူမှာ ရုရှားပြည်သူများ ဖြစ်လေ သည်။ ဓား သိုင်းကစားနည်းဥပဒေနှင့်အညီ ထိုအကြောင်း ကို ရှင်းလင်းပြလျက်ရှိသူကား ထို အဖြစ်အပျက်ကြီးကို ရေးသားခဲ့ကြသည့် ရာဇဝင်ဆရာများ ဖြစ်လေသည်။

၊ စမိုးလင်းမြို့ကို မီးလောင်ပြီးသည့်နောက်၌ စစ်ပွဲ ၏ အစဉ်အလာဟောင်းများနှင့် ဆန့်ကျင်သော စစ်ပွဲတစ် ရပ်သည် ပေါ်ပေါက်ခဲ့လေသည်။ မြို့ရွာများကို မီးရှို့ခြင်း၊ တိုက်ပွဲများအပြီးတွင် ဆုတ်ခွာသွားခြင်း၊ ဘိုရိုဒီနိုတွင် ပြင်းထန်စွာ တိုက်ခဲ့ပြီးနောက် ထပ်မံ ဆုတ်ခွာသွားခြင်း၊ မော်စကိုမြို့ကို မီးရှို့ခဲ့ခြင်း၊ ပြင်သစ်တပ်ပြေးများကို ဖမ်း ဆီးခဲ့ခြင်း၊ ထောက်ပို့ပစ္စည်းများကို သိမ်းဆည်းခြင်းနှင့် ပြောက်ကျားစစ်ပွဲ ဆင်နွှဲခြင်း စသည်တို့သည် စစ်ပွဲ၏ သမားရိုးကျ စည်းကမ်းဥပဒေများမှ ခွဲထွက်လာသော အခြင်းအရာများ ဖြစ်လေသည်။

နပိုလီယန်သည် ဤအခြင်းအရာကို ရိပ်စားမိ၏။ မော်စကိုမြို့တွင် မိမိက မှန်မှန်ကန်ကန် ဓားသိုင်းကစား လိုသည့် သဘောကို ပြခဲ့သော်လည်း တစ်ဖက်က ဆောင် ဓားဖြင့် မဟုတ်ဘဲ ၎င်း၏ခေါင်းပေါ်သို့ တင်းပုတ်ကြီး ဝဲ၍ ဝင်လာသော အချိန်မှစ၍ ဤစစ်ပွဲမှာ စစ်ပွဲ၏ စည်း ကမ်းဥပဒေများနှင့်မညီ (စည်းကမ်းဥပဒေနှင့် ညီသော လူသတ်ခြင်း ဟူ၍ ရှိသေးသည်ဟု နပိုလီယန် ထင်သလော မပြောတတ်ပါ။)ဟု စစ်သေနာပတိချုပ် ကူတူဇော့ဗ်ထံသို့ လည်းကောင်း၊ အလက်ဇန်းဒရားဘုရင်ထံသို့ လည်း ကောင်း တစ်လျှောက်လုံး ကန့်ကွက်ပြောဆိုခဲ့လေသည်။ စစ်ပွဲ၏ စည်းကမ်းဥပဒေများကို ဖောက်ဖျက်သည်ဟု ပြင်သစ်တို့က မည်မျှ စွပ်စွဲကြစေ၊ တင်းပုတ်ကြီးဖြင့် တိုက်ခိုက်သတ်ပုတ်ခြင်းသည် "ခိုက်" လွန်းလှသည်။ ဓားသိုင်းကစားနည်း ဥပဒေများနှင့် မညီ၊ "စင်ရော်သုတ်"၊ "သက်တင်ဆွဲ"၊ "ပဝါကမ်း" စသည် ဓားချက်တို့ဖြင့် ဝင် သင့်သည်ဟု အလွန်အရေးကြီးသော ရုရှားအမျိုးသားကြီး များက မည်မျှ အာပေါက်အောင်ပြောကြသည်ဖြစ်စေ၊ ပြည်သူ့စစ်တည်းဟူသော တင်းပုတ်ကြီးသည် ထိတ်လန့် ဖွယ်ကောင်းလောက်အောင် ကြီးကျယ်လှသည့် အင်အား ဖြင့် မြောက်တက်လာကာ မည်သူ၏ အကြိုက်၊ မည်သည့် စည်းကမ်းကိုမျှ လိုက်နာခြင်း မပြု၊ မည်သည့်အရာကိုမျှ ထောက်ထားခြင်းလည်း မရှိဘဲ "တော်သူ့ထိပ်၊ မတော် သူ့ထိပ်" ဆိုသကဲ့သို့ ကျမိကျရာ တရစပ်ကျ

လာကာ ကျူးကျော်မှုကြီးတစ်ခုလုံး ထောင်းထောင်းညက်ညက် ကျေပြုန်းသွားသည်အထိ ပြင်သစ်တို့ကို ထုထောင်း ရိုက် နှက်ပစ်လိုက်လေသည်။

(၁၈၁၃-ခုနှစ်တွင် ပြင်သစ်တို့ ပြုလုပ်ခဲ့သကဲ့ ( သို့) ဓားသိုင်းကစားနည်းဥပဒေစည်းကမ်းများနှင့်အညီ ရက်ရောသဘောထားကြီးသော အောင်နိုင်သူကို ယဉ်ကျေး သိမ်မွေ့စွာ ဓားရိုးကမ်းလာခြင်း၊ ဦးညွတ်နူတ်ဆက်ခြင်း စသည်တို့ မပြုလုပ်နိုင်သည့် လူမျိုးတစ်မျိုး၊ လွယ်လွယ်နှင့် အရှုံးမပေးနိုင်သည့် လူမျိုးတစ်မျိုး အဖို့ကား ထိုအတိုင်း ပင် လုပ်ရမည်သာ ဖြစ်ပါသည်။ ထိုလူမျိုးအဖို့ သေရေး ရှင်ရေးကို ရင်ဆိုင်နေရစဉ်ကာလ၌ အလားတူ အခြေအနေ မျိုးတွင် အခြားသူတို့ မည်သို့သော စည်းကမ်းဥပဒေမျိုးကို လိုက်နာကြသနည်းဟုလည်း မေးမြန်းခြင်း ပြုနေနိုင်တော့ ဘဲ တွေ့ရာတင်းပုတ်ကို ကောက်ဆွဲကာ မိမိတို့ရင်ထဲ၌ ရှိသည့် အခဲမကျေစိတ်နှင့် လက်စားချေစိတ်တို့၏ နေရာ တွင် ကိုယ့်ကိုယ်ကို စက်ဆုပ်ရွံရှာခြင်း၊ စိတ်မကောင်းဖြစ် ရခြင်း စသည့် ခံစားချက်တို့ ပေါ်ပေါက်လာသည်အထိ စိတ်ရှိလက်ရှိ အားရပါးရ ရိုက်ပုတ်သတ်ဖြတ်ခြင်း ပြုရ တော့မည်သာ ဖြစ်ပါသတည်း။

# အခန်း ၂

စစ်ပွဲ၏ စည်းကမ်းဥပဒေများဟု ခေါ်သောအရာများမှ ခွဲထွက်လာသည့် နည်းလမ်းများအနက် အထင်ရှားဆုံး လည်းဖြစ်၊ အကျိုးအများဆုံးလည်းဖြစ်သော နည်းလမ်း တစ်ခုမှာ ထုကြီးဖြင့် သိပ်သည်းစွာ စုစည်းထားသောလူ များကို ပြန့်ကျဲ လျက်ရှိသည့် အစုကလေးများဖြင့် တိုက် သည့်နည်းပင် ဖြစ်၏။ ဤသို့သော နည်းများကို အမျိုး သားလက္ခဏာ ဆောင်သော စစ်ပွဲများတွင် အသုံးပြုလေ့ ရှိကြလေသည်။ ထိုတိုက်နည်းမျိုး၌ လူအုပ်ကြီးနှစ်အုပ် တစ်အုပ်နှင့်တစ်အုပ် ရင်ဆိုင်

တိုက်ခိုက်ခြင်း မပြုကြတော့ ဘဲ လူစုခွဲကာ တစ်စုချင်း တစ်ယောက်ချင်း တိုက်လေ့ ရှိကြသည်။ သာလွန်အင်အား ကြီးမားသော ရန်သူနှင့် တွေ့လျှင် ရှောင်ပြေးကြ၍ အခွင့်သာလျှင် ပြန်တိုက်ကြ ပြန်သည်။ ဤနည်းကို စပိန်ပြောက်ကျားများ၊ ကော့ကေး ဆပ်တောင်ပေါ် လူမျိုးစုများနှင့် ၁၈၁၂-ခုနှစ်တွင် ရုရှား များက အသုံးပြုခဲ့ကြလေသည်။

ဤစစ်ပွဲမျိုးကို "ပြောက်ကျား"စစ်ပွဲဟု ခေါ်ကြ၍ နာမပညတ်ကပင်လျှင် အနက်အဓိပ္ပာယ်ကို ဖော်ပြပြီး ဖြစ် သည်ဟု ယူဆကြသည်။ သို့ရာတွင် ဤစစ်ပွဲမျိုးသည် သမားရိုးကျစစ်ပွဲ၏ အစဉ်အလာ စည်းကမ်းဥပဒေများနှင့် ကိုက်ညီခြင်း မရှိရုံမျှမက မမှားနိုင်ဟု ယူဆလျက်ရှိကြ သော ထင်ရှားကျော်ကြားသည့် သမားရိုးကျ စစ်ပရိယာယ် စည်းကမ်းများနှင့်လည်း ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက် ရှိလေသည်။ တိုက်ပွဲဖြစ်နေချိန်ကာလ၌ တိုက်စစ်ပြုသူသည် မိမိရန်သူထက် သာလွန်ကြီးမားသော အင်အားကို စုစည်း ရမည်ဟု ထိုမမှားနိုင်ဟု ယူဆထားကြသည့် စည်းကမ်း များက ဖွင့်ဆိုကြသည် မဟုတ်လော။ . (ရာဇဝင်က ပြခဲ့ပြီး ဖြစ်သည့်အတိုင်း အမြဲတမ်း အနိုင်ရလေ့ရှိသော) ပြောက်ကျားစစ်ပရိယာယ်သည် ထို စည်းကမ်းကို တိုက်ရိုက်ချိုးဖောက်လိုက်လေသည်။ သို့ဖြစ်၍ သမားရိုးကျ စစ်စည်းကမ်းဥပဒေများနှင့် ပြောက်ကျားစစ်ပရိယာယ်သည် တစ်ခုနှင့်တစ်ခု ပဋိပက္ခ ဖြစ်နေကြပြီ မဟုတ်လော။

ဤသို့ ပဋိပက္ခလာဖြစ်နေရခြင်းမှာ စစ်သိပ္ပံပညာ ' သည် စစ်တပ်တစ်တပ်၏ အင်အားကို အရေအတွက်ဖြင့် သတ်မှတ်ခြင်းကြောင့် ဖြစ်လေသည်။ စစ်တပ်များလေ အင်အားကြီးလေဟု စစ်သိပ္ပံပညာက ဆိုသည်မဟုတ် လော။ တပ်ရင်းကြီးများသည် အမြဲတမ်း မှန်ကန်သည်ဟု စစ်သိပ္ပံပညာက ဆိုသည် မဟုတ်လော။

စစ်သိပ္ပံပညာက ဤသို့ဆိုခြင်းမှာ ယန္တရားဗေဒ တွင် အဟုန်၏ အဓိပ္ပာယ်ကို ဒြပ်ထုတစ်ခုတည်းဖြင့် ဖော်ပြခြင်းမျိုးနှင့် တူလေသည်။ အဟုန်တစ်ခုနှင့်တစ်ခု ညီမျှခြင်း၊ သို့မဟုတ် မညီမျှခြင်းသည် ထိုအဟုန်များ ထဲတွင် ပါဝင်သောဒြပ်ထုများ ညီမျှခြင်း သို့မဟုတ် မညီမျှ ခြင်းကြောင့် ဖြစ်ရသည်ဟု ပြောခြင်းမျိုးနှင့် တူပေသည်။

ယန္တ ရားဗေဒ၌ အဟုန် (ရွေ့လျားမှု၏ အရေ အတွက်) သည် ဒြပ်ထုနှင့် အလျင်တို့ မြှောက်၍ရသည့် ရလဒ်ပင် ဖြစ်လေသည်။ (ဒြပ်ထု xအလျင်=အဟုန်)။

စစ်ရေးစစ်ရာ၌ စစ်တပ်တစ်တပ်၏ အင်အားသည် ဒြပ်ထုနှင့် (က)ဆိုသော မသိကိန်းတို့ မြှောက်ခြင်း၏ ရလဒ် ဖြစ်လေသည်။ (ဒြပ်ထု x က = စစ်တပ်၏အင်အား)။

ရာဇဝင်ကို ပြန်ကြည့်သောအခါ၌ စစ်တပ် တစ်တပ်၏အင်အားသည် ၎င်း၏ အရေအတွက်နှင့် အခါ ခပ်သိမ်း ညီမျှခြင်းမရှိခြင်းကို လည်းကောင်း၊ သေးငယ်သော တပ်ခွဲကလေးတစ်ခွဲက တပ်ရင်းကြီးတစ်ရင်းအား အနိုင်ရလိုက်ခြင်းကို လည်းကောင်း စစ်သိပ္ပံပညာသည် သွားတွေ့၏။ ထိုအခါ၌ စစ်သိပ္ပံပညာသည် စစ်တပ်ကြီး တစ်တပ်၏ အင်အားကို တွက်ချက်ရာ၌ (အရေအတွက် တစ်ခုတည်းသာမကဘဲ) အခြားမသိကိန်းတစ်ခု ပါဝင်နေ ခြင်းကို ဝိုးတိုးဝါးတား ဝန်ခံကာ ထိုမသိကိန်းကို ရှာဖွေ ရန် ကြိုးစားခြင်းပြုလေသည်။ စစ်သိပ္ပံပညာက ထိုမသိ ကိန်းသည် စစ်ဆင်စစ်တက်နည်းဖြစ်သည်ဟု လည်း ကောင်း၊ လက်နက်ဖြစ်သည်ဟု လည်းကောင်း၊ အထူး သဖြင့် တပ်မှူးတို့၏ပါရမီဉာဏ်ဖြစ်သည်ဟု လည်းကောင်း အမျိုးမျိုး ပြောဆိုလျက် ရှိလေသည်။ သို့ရာတွင် စစ်သိပ္ပံ ပညာက ဖော်ထုတ်တင်ပြသော ထိုမသိကိန်း၏ အဓိပ္ပာယ် များသည် ရာဇဝင်အဖြစ်အပျက်များနှင့် ကိုက်ညီသော ရလဒ်များကို မပေးနိုင်ချေ။

ဤမသိကိန်း၏ အရေးအတွက်ကို ရှာဖွေရန်မှာ တစ်နည်းသာ ရှိပါသည်။ ယင်းမှာ အခြားမဟုတ်။ ("လူ စွမ်းကောင်း" ဆိုသူများကို မျက်နှာလိုအားရ လုပ်ရန် အတွက် ချမှတ်ထားသော) တပ်မှူးများက စစ်ပွဲအတွင်း ထုတ်ပြန်သည့် ညွှန်ကြားချက်များသည် အလွန်တန်ခိုး ဣဒ္ဓိပါဒ်နှင့် ပြည့်စုံသည်ဆိုသော မှားယွင်းသည့်အမြင်ကို ရေထဲလွှင့်ပစ်လိုက်သည့်နည်းသာလျှင် ဖြစ်ပါသည်။

သို့ဖြစ်လျှင် ထိုမသိကိန်းသည် အဘယ်နည်း။ ၎င်းမှာ အခြားမဟုတ်။ စစ်တပ်တစ်တပ်၏ စိတ်ဓာတ်ပင် ဖြစ်လေသည်။ တစ်နည်းပြောရလျှင် စစ်တပ်တစ်တပ်တွင် ပါဝင်လျက် ရှိသူများက တိုက်ခိုက်ရန် သို့မဟုတ် အန္တ ရာယ်ကို ရင်ဆိုင်ရန် မည်မျှအဆင်သင့်ဖြစ်သနည်း ဆိုသည့် အချက်ပင် ဖြစ်လေသည်။ ပါရမီဉာဏ်ရှင်တစ်ဦး ၏ ကွပ်ကဲမှုအောက်တွင် တိုက်ရခြင်းဟုတ် မဟုတ်၊ မည်သည့် စစ်ပရိယာယ်ကို အသုံးပြု မပြု၊ တင်းပုတ်များ၊ သို့မဟုတ် တစ်မိနစ်တွင် အချက်သုံးဆယ်ထွက်သော ရိုင်ဖယ်များကို အသုံးပြုမပြုဆိုသည်မှာ အခရာ မဟုတ် ချေ။ စစ်တိုက်လိုသူသည် စစ်တိုက်ရန်အတွက် အကောင်း ဆုံး၊ အကျိုးကျေးဇူး အများဆုံး အခြေအနေမျိုးကို အမြဲ တမ်း ဖန်တီးမည်သာ ဖြစ်လေသည်။

စစ်တပ်တစ်တပ်၏ စိတ်ဓာတ်ကို ဒြပ်ထုဖြင့် မြှောက်လျှင် အင်အားဟူသော ရလဒ်ကို ရပေသည်။ စစ်သိပ္ပံပညာသည် စစ်တပ်၏ စိတ်ဓာတ်ဟူသော မသိကိန်း၏ အရေးကြီးပုံကို ရှင်းလင်းရှာဖွေခြင်း မပြုနိုင် ချေ။ ထိုအရာသည် စစ်သိပ္ပံပညာအတွက် ခက်ခဲသော ပုစ္ဆာကြီးတစ်ရပ် ဖြစ်လျက် ရှိလေသည်။

ဤပုစ္ဆာကို ရှင်းရန်မှာ မသိကိန်းဖြစ်သော (က)၏ နေရာတွင် ဗိုလ်ချုပ်များ၏ ကွပ်ကဲမှု၊ လက်နက် စသည့် အင်အားဟု ထင်ရသောအရာတို့ကို ထည့်သွင်းတွက်ချက် ခြင်းမပြုဘဲ တပ်သားများက တိုက်ခိုက်ရန်၊ အန္တရာယ် ကို

ရင်ဆိုင်ရန် မည်မျှ အဆင်သင့်ဖြစ်နေကြသနည်းဆို သည့် အချက်ကို ထည့်သွင်း တွက်ချက်ရပေလိမ့်မည်။ သိပြီးဖြစ်သော ရာဇဝင်အချက်အလက်များကို ညီမျှခြင်း များဖြင့် ဖော်ပြ၍ ထိုမသိကိန်း၏ နှိုင်းယှဉ်ချက်အားဖြင့် ( အရေးကြီးပုံကို စဉ်းစား မှသာလျှင် ထိုမသိကိန်းကို ရှာဖွေ နိုင်ပေလိမ့်မည်။

လူဆယ်ယောက် သို့မဟုတ် တပ်ရင်းကြီးများ ( သို့မဟုတ် တပ်မကြီး များသည် လူဆယ့်ငါးယောက်၊ ( သို့မဟုတ် တပ်ရင်းကြီးများ၊ သို့မဟုတ် တပ်မ ကြီးများကို အနိုင်ရလိုက်၏။ တစ်နည်းပြောရလျှင် အခြားသူများ ( အားလုံးကို ကျ ဆုံးစေခဲ့၊ ဖမ်းမိခဲ့၍ မိမိတို့ဘက်တွင် လေးယောက်မျှသာ ကျဆုံးခဲ့၏။ ထို့ကြောင့် လေးယောက် သည် တစ်ဆယ့်ငါးယောက်နှင့် ညီမျှသည်ဟု အဓိပ္ပာယ် ထွက်၏။ ဤသည်ကို ညီမျှခြင်းချကြည့်လျှင် ၄က= ၁၅ခ ဟုရ၏။ ထို့ကြောင့် ကခ=၁၅/၄ ဟု ညီမျှခြင်း ရ၏။

ဤညီမျှခြင်း ရရုံမျှဖြင့် မသိကိန်း၏ တန်ဖိုးကို ကျွန်ုပ်တို့ မသိရသေး။ ကခ ဟူသော မသိကိန်းနှစ်ခု၏ နှိုင်းယှဉ် အချိုးကိုသာ သိရသေး၏။ (တိုက်ပွဲများ၊ တိုက်ပွဲစဉ်များ၊ စစ်ပွဲကာလများစသည့်) ရာဇဝင်၏အထူးထူးသော ကေ ဝုစ်ကိန်း များကို မသိကိန်းနေရာတွင် ညီမျှခြင်းချ၍ အစား ထိုးတွက်မည်ဆိုက အဖြေအမျိုး မျိုးထွက်လာကာ ထိုအဖြေ များနှင့် ကိုက်ညီသော တရားများကိုလည်း ကျွန်ုပ်တို့ ထုထောင်ကြရတော့မည် ဖြစ်၏။

စစ်တပ်တစ်တပ်သည် တိုက်စစ်ပြုသောအခါ၌ ထုဖြင့် လှုပ်ရှား၍ ဆုတ်ခွာ သောအခါတွင် အစုကလေးများ ဖြင့် လှုပ်ရှားရမည်ဟူသော သမားရိုးကျစစ် ပရိယာယ်က စစ်တပ်တစ်တပ်၏ အင်အားသည် စိတ်ဓာတ်အပေါ်တွင် တည်သည် ဆိုသောတရား မှန်ကြောင်းကို မသိမသာ အတည်ပြုခဲ့ပြီး ဖြစ်လေသည်။ ရန်သူ ထိုးစစ်ကို ခုခံရခြင်း ထက် ရန်သူပစ်ခတ်မှုအောက်သို့ တိုးဝင်၍ ကိုယ်က ထိုးစစ်

ပြုရခြင်းက ပို၍ စည်းကမ်းသေဝပ်မှုရှိဖို့ လိုအပ် ပါသည်။ (ဤတွင်လည်း ထုဖြင့် လှုပ်ရှားမှသာ စည်း ကမ်းပို၍ ရှိပါသည်။ သို့ရာတွင် စစ်တပ်၏ စိတ်ဓာတ် ကို ထည့်သွင်းတွက်ချက်ခြင်း မပြုသော အဆိုပါ စည်းကမ်း ဥပဒေသည် အမြဲတမ်း မှားလျက် ရှိကြောင်းကို ရာဇဝင် ကသက်သေပြပြီး ဖြစ်ပါသည်။ အထူးသဖြင့် အမျိုးသား - စစ်ပွဲများတွင် တွေ့ရတတ်သော စစ်တပ်၏စိတ်ဓာတ် အတက်အကျ ဖြစ်ပေါ်လေ့ရှိသည့် ကာလမျိုးတွင် ထို သဘောတရားသည် အချက်အလက်များ နှင့် ကိုက်ညီခြင်း မရှိဘဲ ဆန့်ကျင်လျက် ရှိပါသည်။

ဥပမာအားဖြင့် အဆိုပါ သဘောတရားကိုသာ လိုက်နာရမည်ဆိုလျှင် ၁၈၁၂- ခုနှစ်က ဆုတ်ခွာခဲ့ကြသော ပြင်သစ်တို့သည် အစုကလေးများ ခွဲ၍ ဆုတ်ခွာခဲ့ကြ သင့် သည် ဖြစ်၏။ (ထိုးစစ်ပြုရာတွင် ထုဖြင့် တိုက်၍၊ ဆုတ် စစ်ပြုရာတွင် အစု ကလေးများဖြင့် ဆုတ်ခွာရမည်ဟု အစဉ်အလာ စစ်ပရိယာယ်၊ စည်းကမ်းများက ဆိုသည် မဟုတ်လော။) သို့ရာတွင် ပြင်သစ်တို့သည် ဤသို့အစု ကလေးများဖြင့် ဆုတ်ခွာခြင်း မပြုဘဲ ထုကြီးဖြင့် ဆုတ် ခွာခဲ့ကြလေသည်။ အဘယ့်ကြောင့်ဆို သော် ထုဖြင့် ရပ်တည်မှသာလျှင် စစ်တပ်ကြီးကို မကွဲအောင် ထိန်းထား နိုင်သည့် အခြေအထိ ပြင်သစ်စစ်တပ်ကြီး၏ စိတ်ဓာတ် သည် လွန်စွာ ကျဆင်းလျက် ရှိ သောကြောင့် ဖြစ်ပါသည်။ ရုရှားတို့သည် ထုဖြင့် တိုက်သင့်ခဲ့ကြသည် ဖြစ်၏။ (ထိုး စစ်ပြုရာတွင် ထုဖြင့် တိုက်သင့်သည်ဟု အစဉ်အလာ စစ်ပရိယာယ်၊ စည်းကမ်းများက ဆိုသည် မဟုတ်လော။) သို့ရာတွင် ရုရှားတို့သည် ထုဖြင့် မ တိုက်ဘဲ အစုကလေး များခွဲ၍ တိုက်ခိုက်ခြင်းပြုခဲ့ကြလေသည်။ အဘယ့်ကြောင့် ဆိုသော် အမိန့်မရှိဘဲ အခက်အခဲ အန္တရာယ်များကို ရင်ဆိုင်ရန် တိုက်တွန်းနှိုးဆော် ရခြင်း မရှိဘဲ တစ်စုချင်း `တစ်ဦးချင်း တိုက်ခိုက်ရလောက်သည့်အခြေအထိ ရုရှား တို့၏ စိတ်ဓာတ်သည် လွန်စွာ မြင့်မားလျက် ရှိသော ကြောင့် ဖြစ်ပါသတည်း။

# အခန်း ၃

ပြောက်ကျားစစ်ဟု ခေါ်သောအရာသည် စမိုးလင့်သို့ ပြင်သစ်တို့ ဝင်ရောက်ခဲ့သည့်အချိန်တွင် စတင်ပေါ်ပေါက် ခဲ့လေသည်။

ပြောက်ကျားစစ်ပွဲကို အစိုးရက တရားဝင်အတည် မပြုမီ ကတည်းကပင် လျှင် ထောင်ပေါင်းများစွာသော ရန်သူတပ်ပြေးများ၊ လုယက်သူများ၊ မြင်းစာရှာထွက်သော ရန်သူထောက်ပို့တပ်များကို ကော့ဆက်မြင်းတပ်များနှင့် လယ်သမားများက သတ်ဖြတ်ချေမှုန်းခဲ့ကြလေသည်။ ခွေး ကောင်းတစ်အုပ်က ခွေးရူးတစ်ကောင်ကို ဝိုင်း၍ အသေ ကိုက်သတ်ကြသည့်နှယ် ရုရှားကော့ဆက်မြင်းတပ်သားများနှင့် လယ်သမားများသည်လည်း ရန်သူတပ်ပြေးများ ကို ဝိုင်း၍ သတ်ဖြတ်ချေမှုန်းခဲ့ကြလေသည်။ ဤပြောက် ကျားစစ်ဟူသော တင်းပုတ်ကြီးသည် စစ်သိပ္ပံပညာ၏ သမားရိုးကျ စည်းကမ်းများကို ဘေးချိတ်ကာ ပြင်သစ်တို့ကို ချေမှုန်းခဲ့လေသည်။ ဒင်းနစ်ဒေဗီဒေါ်ဆိုသူ ရုရှားစစ်ဗိုလ် တစ်ဦးသည် ရုရှားလူမျိုးတို့၏ ပကတိဉာဏ်ဖြင့် ဤ ကြောက်မက်ဖွယ် တင်းပုတ်ကြီး၏ တန်ဖိုးကို ပထမဆုံး သိမြင်ခဲ့လေသည်။ ထို့ကြောင့် ပြောက်ကျားစစ်ပွဲ နည်း ပရိယာယ်ကို စနစ်တကျ ဖြစ်လာအောင် ပထမဆုံး ဆောင် ရွက်ခဲ့သူအဖြစ် ၎င်းကိုပင် ချီးကျူးဂုဏ်ပြုရမည် ဖြစ်လေ သည်။

ဩဂုတ်လ ၁၄-ရက်နေ့တွင် ဒေဗီဒေါ့၏ ပထမ ဆုံးသော ပြောက်ကျားတပ်ဖွဲ့ကို ဖွဲ့စည်းလိုက်လေသည်။ ထို့နောက် အခြားသော ပြောက်ကျားတပ်ဖွဲ့ များကိုလည်း အသိအမှတ်ပြုခဲ့လေသည်။ တိုက်ပွဲစဉ်သည် တိုးတက် လာသည်နှင့်အမျှ ပြောက်ကျားတပ်ဖွဲ့ အရေအတွက်သည် လည်း များပြားလာခဲ့လေသည်။

ပြောက်ကျားတပ်သားများသည် ပြင်သစ်စစ်တပ် ကြီးကို တစ်ပိုင်းစီ၊ တစ်ပိုင်းစီ ချေမှုန်းဖျက်ဆီးခဲ့ကြ၏။ ပြင်သစ်စစ်တပ်ကြီးဟူသော ခြောက်သယောင်းလျက် ရှိ သည့် ပင်မကြီးမှ အလိုလိုကြွေကျလာသော သစ်ရွက်များ ကိုလည်း ၎င်းတို့ရှင်းလင်းပစ်ခဲ့ကြ၏။ တစ်ခါတစ်ရံတွင် သစ်ပင်ကြီးကိုလည်း ကိုင်လှုပ်ခဲ့ကြသည်။ ပြင်သစ်တို့ စမိုးလင့်သို့ ထွက်ပြေးလျက်ရှိချိန်ဖြစ်သော အောက်တို ဘာလထဲ၌ အစွယ်အစားအမျိုးမျိုး၊ လက္ခဏာအမျိုးမျိုးကို ဆောင်သော ပြောက်ကျားတပ်ဖွဲ့တို့၏ အရေအတွက်မှာ ရာချီ၍ ရှိလာခဲ့လေပြီ။ အချို့ ပြောက်ကျားတပ်ဖွဲ့များကား စစ်တပ်ကြီးများကဲ့သို့ပင် ခြေလျင်တပ်၊ အမြောက်တပ်၊ ဦးစီးဌာနထောက်ပံ့ရေးဌာနတို့ပင် ရှိကြသေးသည်။ အချို့ တပ်ဖွဲ့များမှာ ကော့ဆက်မြင်းတပ်သားများသာ ပါဝင်၏။ အချို့တပ်များမှာလည်း ခြေလျင်တပ်များနှင့် မြင်းတပ် သားတို့ စုပေါင်းဖွဲ့ ထားကြ၏။ အချို့တပ်ဖွဲ့များတွင် အမည်မသိမြေရှင်များနှင့် လယ်သမားများ ပါဝင်ကြလေ သည်။ ဘုန်းတော်ကြီးတစ်ပါးသည် ပြောက်ကျားတပ်ဖွဲ့ တစ်ဖွဲ့ကို ခေါင်းဆောင်ကာ တစ်လအတွင်း သုံ့ပန်း ရာပေါင်းများစွာကို ဖမ်းဆီးခဲ့သည်။ ကျေးရွာလူကြီးတစ်ဦး ၏ ဇနီးဖြစ်သူ ဗာစီလီဇာဆိုသူသည် ပြင်သစ်ရာပေါင်း  များစွာကို သတ်ဖြတ်ခဲ့သည်။

ပြောက်ကျားစစ်ပွဲမီးလျှံသည် အောက်တိုဘာလ ကုန်ခါနီးရက်များတွင် အရှိန်ပြင်းစွာ တောက်လောင်ခဲ့ လေသည်။ ပြောက်ကျားစစ်ပွဲ၏ ပထမပိုင်းကာလမှာ ကုန်ဆုံးသွားလေပြီ။ ထိုကာလ၌ ပြောက်ကျားများသည် ၎င်းတို့၏ အတင့်ရဲမှုကိုပင် ၎င်းတို့ဘာသာ အံ့သြလျက် ရှိကြသည်။ ပြင်သစ်များ၏ ဝိုင်းဝန်းခြင်း၊ ဖမ်းဆီးခြင်း ကို ခံရမည့် အန္တရာယ်ကို အမြဲစိုးရိမ်ကာ တောအုပ်များ ထဲတွင် ပုန်းအောင်းခဲ့ကြသည်။ မြင်းများကို ကုန်းနှီးများ ပင် မဖြုတ်၊ မြင်းပေါ်မှလည်း မဆင်းကြဘဲ ရန်သူဝိုင်း လေမည်လောဟု အမြဲသတိထားလျက် ရှိခဲ့ကြသည်။ အောက်တိုဘာလကုန်၌ကား ထိုပြောက်ကျားစစ်ပွဲသည် ပီပြင်သော် ပုံသဏ္ဍာန်ကို

ဆောင်လာခဲ့လေပြီ။ ပြင်သစ် တပ်များကို မည်သို့ တိုက်ခိုက်ခြင်း ပြုသင့်သည်၊ မည် သို့ တိုက်ခိုက်ခြင်း မပြုသင့်ဆိုသည်ကို ပြက်ပြက်ထင် ထင် သိလာခဲ့ကြလေပြီ။ စစ်ပွဲ၏ သမားရိုးကျ စည်းကမ်း များကို လိုက်နာကာ မိမိတို့၏ စစ်ဦးစီးဌာနနှင့် အတူ ပြင်သစ်တို့နှင့် ဝေးရာတွင် လှုပ်ရှားလျက်ရှိသည့် တပ်မှူးများ ကသာလျှင် ပြောက်ကျားစစ်ပွဲကို မဖြစ်နိုင်သောအရာဟု ယူဆလျက် ရှိကြသည်။ သို့ရာတွင် ကာလအတန်ကြာ ကပင်လျှင် မိမိတို့သဘောနှင့် မိမိတို့ ထတိုက်ကာ ပြင်သစ်တို့အား နီးကပ်စွာ စောင့်ကြပ်လျက် ရှိခဲ့ကြသော ပြောက်ကျားတပ်စုကလေးများသည် တပ်ဖွဲ့ ကြီးများမှ တပ်မှူးများ မတွေးရဲသည့်အလုပ်မျိုးကို လုပ်ကြမည်ဖြစ် လည်းဖြစ်နိုင်သည်ဟု ယူဆလျက် ရှိကြသည်။ ပြင်သစ်စစ် ကြောင်းထဲသို့ တိတ်တဆိတ် ဝင်ရောက်ခဲ့ကြသော ကော့ ဆက်မြင်းတပ်သားများနှင့် လယ်သမားများသည် ၎င်းတို့ လုပ်လျှင် မည်သည့်အရာမဆို ဖြစ်နိုင်သည်ဟု ယူဆလျက် ရှိကြလေသည်။

အောက်တိုဘာ ၂၂-ရက်နေ့၌ (ပြောက်ကျားတပ်ဖွဲ့ ခေါင်းဆောင်တစ်ဦးဖြစ်လျက်ရှိသော) ဒင်နီဆော့ဗ်သည် ပြောက်ကျားစစ်စိတ် စစ်သွေးထက်သန်လျက် ရှိသော ၎င်း၏ တပ်ဖွဲ့နှင့်အတူ ရှိနေ၏။ ၎င်းနှင့် တပ်ဖွဲ့ သည် နံနက်စောစောကတည်းက လှုပ်ရှားလျက်ရှိခဲ့ကြ၏။ ပေ တစ်ရာလမ်းမကြီးနှင့် ကပ်လျက်ရှိသော တောစပ်တစ် လျှောက်မှနေ၍ ရုရှားစစ်သုံ့ပန်းများနှင့် မြင်းတပ် ဝန်တင်  လှည်းများကို စောင့်ကြပ်လိုက်ပါလာသော ပြင်သစ်ထောက် ပို့တပ်ကြီးတစ်တပ်ကို စောင့်ကြပ်လိုက်ပါလာခဲ့ကြ၏။ ထိုတပ်မှာ ပင်မစစ်တပ်ကြီးနှင့် ကွဲလာသော တပ်တစ်တပ် ဖြစ်လေသည်။ ထိုတပ်မှာ အစောင့်အရှောက်အခိုင်အလုံဖြင့် စမိုးလင့်သို့ ဆုတ်လျက်ရှိသော တပ်တစ်တပ်ဖြစ်ကြောင်း၊ သူလျှိုများနှင့် သုံ့ပန်းများထဲမှ ကြားသိရ၏။ ဒင်နီဆော့ဗ် နှင့် ဒိုလိုကော့ဗ်တို့အပြင် (ဒိုလိုကော့ဗ်မှာ ပြောက်ကျားတပ်စုကလေးတစ်စုကို ခေါင်းဆောင်ကာ ဒင်နီဆော့ဗ်၏ နယ်သို့ မကြာမီက

ရောက်လာခဲ့ခြင်း ဖြစ်သည်။) တပ်မ ကြီးများကို ကွပ်ကဲလာသော တပ်မှူး များသည်လည်း ထို ပြင်သစ်အစောင့်တပ်ကြီးအကြောင်းကို ကြားသိပြီးဖြစ်ကာ (ဒင်နီဆော့ဗ်၏ စကားအရ ပြောရလျှင်) ပါးစပ်တပြင်ပြင် ဖြစ်လျက် ရှိကြ၏။ တပ်မကြီးများ၏ တပ်မှူးနှစ်ဦးက (တစ်ဦးမှာ ဂျာမန်လူမျိုးဖြစ်၍ အခြားတစ်ဦးမှာ ပိုလန် လူမျိုးဖြစ်သည်။) ဒင်နီဆော့ဗ်အား မိမိတို့တပ်များနှင့် အတူ ပြင်သစ် စစ်တပ်ကြီးကို လာတိုက်ရန် တစ်ချိန်တည်း ဖိတ်ခေါ်ခြင်း ပြုကြသည်။

ဒင်နီဆော့ဗ်သည် ထိုဖိတ်ကြားချက်နှစ်စောင်ကို ( ဖတ်ရင်း "အံ့မယ်၊ ငါ့ကို များ မနေ့က မွေးလာတဲ့ကလေး လေးများ အောက်မေ့နေသလား မသိဘူး"ဟု ရွတ်ဆို လျက် ရှိ၏။ ထို့နောက် ဤမျှရဲရင့်၍ ဤမျှကျော်ကြား သော တပ်မှူးတစ် ဦး၏ အောက်တွင် အမှုထမ်းလိုပါ ကြောင်း၊ သို့ရာတွင် မိမိမှာ ပိုလန်ဗိုလ်ချုပ်၏ ကွပ်ကဲမှု ကို လက်ခံပြီးဖြစ်သည့်အတွက် ဤအခွင့်အရေးကြီးကို ဝမ်းနည်းစွာ လက်လွှတ်ရတော့မည် ဖြစ်ကြောင်းဖြင့် ( ဂျာမန်ဗိုလ်ချုပ်ထံ အကြောင်းပြန်လိုက် သည်။ ပိုလန်ဗိုလ် ချုပ်ထံသို့လည်း မိမိမှာ ဂျာမန်ဗိုလ်ချုပ်၏ ကွပ်ကဲမှုကို လက်ခံ ပြီးဖြစ်ကြောင်းဖြင့် အလားတူအကြောင်းပြန်ကြား လိုက်သည်။

ဒင်နီဆော့ဗ်နှင့် ဒိုလိုကော့ဗ်သည် ပြဿနာကို ဤသို့ ရှင်းလိုက်ကြပြီး နောက် စစ်မိန့်ပေးဌာနချုပ်သို့ သတင်းမပို့တော့ဘဲ မိမိတို့သဘောဖြင့် ပြင်သစ် အစောင့် တပ်ကြီးကို ဝင်တိုက်၍ ပစ္စည်းများကို သိမ်းရန် ကြံရွယ် လျက် ရှိကြ သည်။ အောက်တိုဘာ၂၂-ရက်နေ့၌ ပြင်သစ် အစောင့်တပ်ကြီးသည် မီကူလီနိုမှ ရှ န်ရှီဗိုရွာဘက်သို့ ရွေ့လျားလျက် ရှိလေသည်။ ထိုရွာနှစ်ရွာကြား ပေတစ် ရာ လမ်း၏ လက်ဝဲဘက်တွင် တောအုပ်ကောင်းကောင်း များရှိကြ၍ အချို့နေရာ များ၌ တောစပ်သည် လမ်းဘေး တွင် ကပ်လျက်ရှိပြီး၊ အချို့နေရာများတွင်မူ တောစပ်သည် လမ်းမနှင့် တစ်မိုင်ခန့် ဝေးလျက် ရှိသည်။ ဒင်နီဆော့ဗ်နှင့် ၎င်း၏တပ်စုသည် တောထဲတွင် တစ်နေ့လုံး မြင်းစီးလိုက် လာခဲ့ကြ၏။

တစ်ခါတစ်ရံတွင် လမ်းနှင့် ခပ်လှမ်းလှမ်း တောအုပ်ထဲမှ တောရိပ်ကို ကွယ်၍ လိုက်လာခဲ့ကြပြီး တစ်ခါတစ်ရံတွင်လည်း လမ်းဘေးတောစပ်ထဲမှ ကပ် လျက် လိုက်လာကြသည်။ လှုပ်ရှားလျက်ရှိသော ပြင်သစ် အစောင့်တပ်ကြီးကိုမူ တစ် ချက်မျှ မျက်ခြည်ပြတ်မခံချေ။ ထိုနေ့နံနက်က ဒင်နီဆော့ဗ်၏ ပြောက်ကျားတပ်စု မှ ကော့ဆက်မြင်းတပ်သားများသည် ပြင်သစ်မြင်းတပ်ပစ္စည်း များကို တင်လာ သော ဝန်တင်လှည်းနှစ်စီးကို ဝင်စီးကာ တောထဲသို့ ခေါ်လာခဲ့ကြသည်။ ထိုပြင် သစ်ဝန်တင်လှည်း နှစ်စီးမှာ မိကူလီနိုရွာအနီး ရွံ့ဗွက်ထဲတွင် နစ်ကျန်ရစ် ခဲ့ကြ ခြင်း ဖြစ်၏။ ထိုနေရာ၌ ပေတစ်ရာလမ်းနှင့် တော စပ်မှာလည်း များစွာ မကွာလှ ချေ။ ထိုနေ့နံနက်မှစ၍ ညနေအထိ ဒင်နီဆော့ဗ်၏ ပြောက်ကျားတပ်စုသည် ပြင် သစ်အစောင့်တပ်ကို ဝင်ရောက်တိုက်ခိုက်ခြင်း မပြုသေး ဘဲ ၎င်း၏ လှုပ်ရှားမှုကို စောင့်ကြည့်လိုက်လာကြ၏။ ပြင်သစ်အစောင့်တပ်ကြီးအား လှန့်ချီမပေးဘဲ ရှန်ရှီ ဗိုရွာ တွင် အေးအေးဆေးဆေး စခန်းချ ရပ်နားသည်အထိ စောင့်ဆိုင်းလို သည့်အတွက် ယခုကဲ့သို့ စောင့်ကြည့်လိုက် လာခြင်း ဖြစ်လေသည်။ ထိုနေ့ညနေ၌ ဒင်နီဆော့ဗ်သည် ရှန်ရှီဗိုရွာမှ တစ်မိုင်အကွာ တောထဲရှိ သစ်ခုတ်သမား၏ တဲ ကလေးတစ်လုံးတွင် ဒိုလိုကော့ဗ်နှင့် တွေ့ဆုံရန် ချိန်း ဆိုထား၏။ ထိုတဲတွင် တိုင်ပင်ဆွေးနွေးပြီးနောက် အရုဏ်တက်တွင် ပြင်သစ်အစောင့်တပ်ကို 'နှစ်ဖက်မှ ညှပ်တိုက်ရန်၊ တစ်ချက်တည်းဖြင့် ပြင်သစ်တပ်ကို အပြုတ် ဖြုတ်ရန် ဖြစ်လေ သည်။

အစီအစဉ်အရ မီကူလီနိုရွာမှ နှစ်မိုင်ဝေး၍ တော စပ်နှင့် ပေတစ်ရာကပ် လျက် ရှိသောနေရာတွင် ဆက် မြင်းတပ်သားခြောက်ယောက်ကို ကင်းပုန်းချရန်၊ နောက် ထပ် ပြင်သစ်တပ်များ ရောက်လာပါက ၎င်းတို့က ဒင်နီ ဆော့ဗ်တို့ထံသို့ လာရောက်သတင်းပို့ရန် ဖြစ်၏။

ရှန်ရှီဗိုရွာမှအလွန် ပေတစ်ရာလမ်းကို ဒိုလိုကော့ဗ် က တာဝန်ယူစောင့် ကြည့်ရန်၊ အခြားပြင်သစ်တပ်များ မည်သည့်နေရာတွင် ရှိသည်ကို စုံစမ်း ရန်ဖြစ်၏။ ပြင်သစ် အစောင့်တပ်မှာ လူပေါင်းတစ်ထောင့်ငါးရာခန့် ပါမည် ဟု ၎င်း တို့က ခန့်မှန်းကြသည်။ ဒင်နီဆော့ဗ်တွင် တပ် သား နှစ်ရာမျှသာ ရှိ၍ ဒိုလိုကော့ဗ် မှာမူ ထိုထက် အရေ အတွက်များ၏။ သို့ရာတွင် လူအင်အားမမျှခြင်း ကြောင့် ဒင် နီဆော့ဗ် စိတ်ပျက်ခြင်း မရှိချေ။ ဒင်နီဆော့ဗ်အဖို့ တစ်ခုသာ သိလို၏။ ယင်းမှာ မိမိတို့ဝင်တိုက်မည့် ပြင်သစ် တပ်သည် မည်သည့် တပ်နည်းဆိုသည့်အချက်ပင် ဖြစ် သည်။ ထိုအချက်ကို သိရန်အတွက် "လျှာတစ်ချောင်း လောက်ကို ဖမ်းမိဖို့ လို သည်။ တစ်နည်းပြောရသော် ရန်သူစစ်သားတစ်ယောက်ကို ဖမ်းမိဖို့ လို၏။ ထိုနေ့ နံနက်က ဗွက်နှစ်နေသော ပြင်သစ်ဝန်တင်လှည်းနှစ်စီး ကို တိုက်ရာတွင် လျှပ်တစ်ပြက်ဝင်စီးရသဖြင့် ရန်သူ သုံ့ပန်းတစ်ယောက်မျှ မရလိုက်ချေ။ ပြင်သစ် ဝန်တင်လှည်း နှင့် ပါလာသော ပြင်သစ်အားလုံး အတုံးအရုံး ကျဆုံး ကုန်ကြသည်။ ဘင်တီးပြင်သစ်စစ်သားတစ်ယောက်ကို ဖမ်းဆီးရမိခဲ့သော်လည်း ၎င်းမှာ သင်းကွဲ လာသောကြောင့် မိမိတို့ တိုက်မည့် ပြင်သစ်စစ်ကြောင်းမှ တပ်များနှင့် ပတ်သက်၍ ဘာမျှ ရေရေရာရာ မသိချေ။

ဒင်နီဆော့ဗ်သည် သုံ့ပန်းရရန်အတွက်မျှဖြင့် ပြင်သစ်အစောင့်တပ်ကို ဒုတိယအကြိမ်လည်း မတိုက် လိုချေ။ သို့ဝင်တိုက်လိုက်က ပြင်သစ်အစောင့်တပ် ကို လှန့်ချီပေးလိုက်သကဲ့သို့ ဖြစ်မည်စိုး၏။ ထို့ကြောင့် မိမိ ပြောက်ကျားတပ်ထဲမှ ရှာဗလီအမည်ရှိ လယ်သမားတစ် ယောက်ကိုခေါ်ကာ အနီးဆုံးရွှေ့ပြေး ရောက်နေ သည့် ပြင်သစ်တပ်ထောက်တစ်ယောက်ယောက်ကို ဖမ်းဆီး ခေါ်ဆောင်ရန် ရှန်ရှီ ဗိုသို့ စေလွှတ်လိုက်လေသည်။

# အခန်း ၄

ထိုနေ့မှာ ပူနွေး၍ မိုးတစွတ်စွတ် ရွာနေသည့် ဆောင်းဦး ပေါက် နေ့တစ်နေ့ ဖြစ်၏။ ကောင်းကင်နှင့် မိုးကုပ်စက် ဝိုင်းသည် ရွှံ့နှစ်ရောင်ထကာ မှိုင်းအုံ့လျက် ရှိသည်။ တစ်ခါတစ်ရံ မိုးသည် ဖွဲဖွဲကလေးမျှကျကာ တစ်ခါတစ်ရံ တွင်လည်း သဲသဲမဲမဲ ရွာချလျက် ရှိ၏။

ဒင်နီဆော့ဗ်သည် သက္ကလပ်ဝတ်ရုံနှင့် မိုးရေ ဦးထုပ်ကို ဝတ်ဆင်ထား ကာ နံပါးနှစ်ဖက် ခွက်ဝင်လျက် ရှိသည့် အမျိုးကောင်း မြင်းပိန်ကလေးတစ်စီးကို စီးလာ ခဲ့၏။ သိုးရေဦးထုပ်မှ ရေစက်များသည် မျက်နှာပေါ်သို့ စီးကျလျက် ရှိကြ သည်။ ၎င်း၏ မြင်းပိန်ကလေးသည် ခေါင်းကို ရင်အုပ်ဆီသို့ ဆွဲထားကာ နားရွက် များကို ပေထား၏။ ၎င်း၏ မြင်းပိန်ကလေးကဲ့သို့ ဒင်နီဆော့ဗ် မှာလည်း တဖျင်း ဖျင်းပက်နေသော မိုးပေါက်များကြောင့် ကိုယ်ကို ကျုံ့ကာ ရှေ့တူရှုသို့ စိုးရိမ်တကြီး လှမ်းကြည့် လျက် ရှိလေသည်။ မည်းနက်သော မုတ်ဆိတ်မွေးငုတ် တိုများ ထူထပ်စွာ ဖုံးလျက်ရှိသည့် ၎င်း၏ ပိန်ချုံးသော မျက်နှာတွင် ဒေါသထွက် သည့် အရိပ်အယောင်လွှမ်း လျက် ရှိသည်။

ဒင်နီဆော့ဗ်၏ ဘေးတွင်မူ ၎င်း၏ ရဲဘော်ဖြစ်၍ ၎င်းကဲ့သို့ပင် သက္ကလတ် ဝတ်ရုံနှင့် သိုးရေဦးထုပ်ကို ဝတ် ဆင်ထားသည့် ကော့ဆက်မြင်းတပ် ဗိုလ်ကြီးတစ် ယောက် သည် ပြောင်ချောလျက်ရှိသော ကော့ဆက်မြင်းကြီးတစ် ကောင်ကို စီးနင်းလိုက်ပါလာ၏။

ကော့ဆက်မြင်းတပ်ဗိုလ်ကြီး လိုဗေစကီသည် မြား တစ်စင်းကဲ့သို့ ဖြောင့်စင်းမြင့်မားသော အရပ်အမောင်း၊ ဖြူဖျော့သောမျက်နှာ၊ လှပသောဆံပင် နှင့် ကျဉ်းမြောင်း၍ အပြာရောင်ဖျော့ဖျော့ မျက်လုံးများရှိသူ ဖြစ်၏။ ၎င်း၏

မျက်နှာနှင့် ကိုယ်ဟန်အမူအရာတို့သည် တည်ငြိမ်အေးဆေး ကာ ကိုယ့်ကိုယ်ကို ယုံကြည်စိတ်ချခြင်းကို ဖော်ပြလျက် ရှိသည်။ မြင်းနှင့် မြင်းစီးသူတို့တွင် မည်သို့ ထူးခြားချက် ရှိသည်ကို မပြောနိုင်သော်လည်း ကော့ဆက်ဗိုလ်ကြီး လိုဗေစကီနှင့် ဒင်နီဆော့ဗ်တို့နှစ်ဦးကို ရုတ်တရက်ကြည့် လိုက်မည်ဆိုပါက ဒင်နီဆော့ဗ်မှာ တစ် ကိုယ်လုံးစိုရွှဲကာ မြင်းပေါ်တွင် မသက်မသာ တက်ထိုင်လာသူတစ်ယောက် မျှသာ ဖြစ်လျက်ရှိပြီး လိုဗေစကီမှာကား ခါတိုင်းကဲ့သို့ သက်သောင့်သက်သာ အေးအေးဆေးဆေးရှိရုံမျှမက ထိုလူ သည် မြင်းပေါ်တွင် တက်ထိုင်လာသူတစ် ယောက်မျှသာ မဟုတ်ဘဲ မြင်းနှင့် တစ်သားတည်း ဆက်စပ်မွေးဖွား လာကာ မြင်း၏ ခွန်အားနှင့် လူ၏ ခွန်အားနှစ်ခုစလုံး ကို ပိုင်ဆိုင်သော လူတစ်ယောက်ဖြစ် လေသလောဟု ထင်မှတ်ရသော လူစားမျိုးတစ်ယောက် ဖြစ်ခြင်းကို တွေ့ ရလေ သည်။

၎င်းတို့ရှေ့နားတွင်မူ လယ်သမားဝတ်ရုံအကျီပွဲ မွဲနှင့် ချည်ဦးထုပ်တစ်လုံးကို ဆောင်းထား၍ မိုးရေကြောင့် တစ်ကိုယ်လုံး ရွှဲရွှဲစိုလျက်ရှိသည့် လယ်သမား လမ်းပြတစ် ယောက်သည် ခပ်သုတ်သုတ် လျှောက်လျက်ရှိသည်။

၎င်းတို့၏ နောက်နားတွင် ပြင်သစ်အကျီဝတ်ရုံ ပြာကို ဝတ်ထားသည့် ရုရှား တပ်ဗိုလ်လေးတစ်ဦးသည် မြီးဆံလည်ဆံဖားဖား၊ ပါးစပ်သွေးယိုလျက်ရှိသည့် ကြုံ လှီပိန်ချုံးလျက်ရှိသော မြင်းငယ်လေးတစ်ကောင်ကို စီး ၍ လိုက်ပါလာလေသည်။

၎င်း၏ဘေးတွင်မူ ရုရှားမြင်းတပ်သားတစ်ယောက် မြင်းတစ်စီးဖြင့် လိုက်ပါ လာ၏။ ထိုမြင်းတပ်သား၏ နောက်တွင်မူ စုတ်ပြတ်လျက်ရှိသော ပြင်သစ်စစ်ဝတ် စုံ နှင့် ဦးထုပ်ပြာဆောင်းထားသည့် လူငယ်တစ်ဦး ထိုင် လိုက်လာသည်။ ထို လူငယ်သည် ရှေ့မှမြင်းတပ်သား၏ ခါးကို အေးစက်နီရဲသောလက်များဖြင့် ဖက်၍ထားရင်း မိမိ ပတ်ဝန်းကျင်ကို တအံ့တဩဖြင့် ငေးမောကြည့်ရှု လိုက်ပါလာ

လေသည်။ ထိုလူငယ်ကား နံနက်က ဖမ်းမိခဲ့ သော ဘင်တီးပြင်သစ်စစ်သား ကလေးပေတည်း။

ငင်းတို့၏ နောက်တွင် ကျဉ်းမြောင်းစိုစွတ်သော တောလမ်းကလေး တစ်လျှောက်၌မူ မြင်းတပ်သားများ သည် သုံးယောက်တစ်တွဲ လေးယောက်တစ်တွဲ မြင်းစီး လိုက်လာကြပြီး တစ်ဖန် ထို့နောက်မှ ကော့ဆက်မြင်း တပ်သားအချို့ လိုက်လာကြသည်။ အချို့မှာ သက္ကလတ် ဝတ်ရုံကြီးများ ခြုံလျက်၊ အချို့မှာ ပြင်သစ်ဝတ်ရုံကြီးများ ဝတ်ထားလျက်၊ အချို့ကား မြင်းစောင်ကြီးများကို ခေါင်း မြီးခြုံထားလျက် ရှိကြ၏။ မိုးရေစွတ်စိုလျက် ရှိခြင်းကြောင့် မြင်းများသည် အနက်ရောင်ထွက်လျက် ရှိကြ၏။ ဖောင်း ဝတ်လော၊ မန်ကျည်းစေ့ရောင်လောဟု ခွဲခြားမရတော့ချေ။ စိုစွတ်လျက်ရှိ၍ ပူးကပ်တွဲကျနေသော လည်ဆံမွေးများ ကြောင့် မြင်းလည်ပင်းများသည် ရှည်လျားသေးသွယ်နေ သည်ဟု ထင်ရ၏။ ပါးစပ်မှလည်း အငွေ့တထောင်း ထောင်း ထွက်လျက်ရှိလေသည်။ အဝတ်အစားများ၊ ကုန်းနှီးများ၊ ဇက်ကြိုးများအားလုံးသည် စိုစွတ်ကာ ချော နေကြသည်။ မြေပြင်နှင့် လမ်းတစ်လျှောက်တွင် ပြန့်ကျဲ လျက်ရှိသော သစ်ရွက်များသည်လည်း ထို့အတူပင် ဖြစ်လေသည်။ မိမိတို့ကိုယ်ပေါ်သို့ စီးကျလျက်ရှိသော ရေများ နွေးသွားစေရန်အတွက်လည်းကောင်း၊ ဒူး၊ ကုပ်ပိုးနှင့် တင်ပါးအောက်သို့ နောက်ထပ် ရေအေးများ စီးဝင်မလာစေ ရန်အတွက် လည်းကောင်း မြင်းစီးယောကျ်ားအားလုံးသည် မြင်းပေါ်တွင် မလှုပ်မယှက် ခပ်ကုပ်ကုပ် လိုက်ပါလာခဲ့ကြ သည်။ ဖြန့်၍ မြင်းစီးလာသည့် ကော့ဆက်မြင်းတပ်သား များအလယ်တွင် ပြင်သစ်မြင်းများနှင့် ကုန်းနှီးတင်ထား သော ကော့ဆက်မြင်းများ ဆွဲလာသည့် ဖမ်းမိသော ပြင်သစ်ဝန်တင်လှည်းနှစ်စီးသည် သစ်ငုတ်တိုများ၊ သစ် ကိုင်းများကို တဂျုံးဂျုံးတက်နင်းကာ လှည်းလမ်းကြောင်းထဲမှ ရွှံ့ဗွက်များထဲတွင် တစွတ်စွတ် မောင်းလာကြ၏။

ဒင်နီဆော့ဗ်၏ မြင်းသည် လမ်းမှ ရေအိုင်တစ်အိုင် ကို ရှောင်လိုက် သည့်အတွက် ဒင်နီဆော့ဗ်၏ ဒူးသည် သစ်ပင်နှင့် ညပ်မိသွားသည်။

"အား၊ ဒီမအေပေးဟာ"ဒင်နီဆော့ဗ်သည် သွား စေ့ကာ စိတ်တိုတိုဖြင့် အော် လိုက်ပြီးနောက် မြင်းကို ကြာပွတ်ဖြင့် သုံးချက်ရိုက်လိုက်သည်။ ၎င်းနှင့် ရဲဘော် များအားလုံးတွင် ရွှံ့စက်တွေ စဉ်သွားလေသည်။

မိုးရွာလျက် ရှိခြင်းကြောင့် လည်းကောင်း၊ ဆာ လောင်ခြင်းကြောင့် လည်းကောင်း (၎င်းတို့အားလုံး နံနက်ကတည်းက ဘာမျှ မစားခဲ့ရသေးချေ။) ထို့ထက် ဒိုလိုကော့ဗ်ထံမှ မည်သည့်သတင်းကိုမျှ မကြားရသေး သည့်အတွက် ကြောင့် လည်းကောင်း၊ "လျှာတစ်ချောင်း" ကို ဖြတ်ယူခဲ့ရန် လွှတ်လိုက်သူ ပြန်မ လာသေးသည့် အတွက် လည်းကောင်း ဒင်နီဆော့ဗ်မှာ စိတ်တိုလျက် ရှိလေပြီ။

"နောက်တစ်ခါဆိုရင် ဒီနေ့လို ထောက်ပို့တပ် တစ်တပ်နဲ့ ကြုံချင်မှ ကြုံ တော့မှာ။ တို့ချည်းပဲ တိုက် ရရင်လဲ သိပ်မလွယ်ဘူး။ နောက်တစ်နေ့ထိအောင် စောင့် ရင်လဲ ဒိပြင် ပြောက်ကျားတပ်တွေက တို့မျက်စိအောက် မှာတင် ဝင် တိုက်သွားရင်အခက်" ဒင်နီဆော့ဗ်သည် ဤ သို့ တွေးရင်း ဒိုလိုကော့ဗ်ထံမှ ဆက် သားတစ်စုံတစ် ယောက် လာမည်လောဟူသော မျှော်လင့်ချက်ဖြင့် ရှေ့ သို့ မျှော်ကြည့်လျက် ရှိလေသည်။

သို့ဖြင့် တောထဲရှိ လမ်းကလေးတစ်ခုသို့ ရောက် လာခဲ့ကြ၏။ ထိုလမ်း၏ လက်ယာဘက်မှာ တောရှင်း  လျက် ရှိသဖြင့် တော်တော်လှမ်းလှမ်းကို မြင်နေရ သည်။ ဒင်ဆော့ဗ်သည် ထိုနေရာတွင် ရပ်လိုက်၏။

"ဟော့၊ ဟိုမှာ လူတစ်ယောက်လာနေတယ် မဟုတ် လား"

ကော့ဆက် မြင်းတပ်ဗိုလ်ကြီး လိုဗေစကီသည် ဒင်နီဆော့ဗ် ညွှန်ပြရာသို့ ကြည့်လိုက်၏။

"နှစ်ယောက်ခင်ဗျ။ တစ်ယောက်ကဗိုလ်၊ တစ် ယောက်က ကော့ဆက် မြင်းတပ်သား။ ဒါပေမဲ့ ဗိုလ်မှူး ဒိုလိုကော့ဗ်ကိုယ်တိုင် ဟုတ်တယ်လို့တော့ ခန့်မှန်း နိုင်စွမ်း မရှိဘူးခင်ဗျ" ဗိုလ်ကြီးလိုဗေစကီသည် မိမိတို့ နားမလည် သော စကားကြီးစကားကျယ်များကို သုံးလေ့ရှိသည့်' ကော့ဆက်လူမျိုးတို့၏ ထုံးစံ အတိုင်း စကားလုံးကြီးကြီး ဖြင့် ပြောလိုက်၏။

'မြင်းသမားနှစ်ယောက်တို့မှာ လျှိုကလေးတစ်ခု ထဲသို့ ဆင်းသက်ပျောက် ကွယ်သွားကြလေပြီ။ သို့ရာတွင် မိနစ်အနည်းငယ်ကြာသော် လျှိုထိပ်သို့ ပေါ်လာ ကြလေ သည်။ ရှေ့မှ ကြာပွတ်ကို သုံး၍ ဒုန်းစီးလာသူမှာ ဘောင်းဘီကို လိပ်တင် ထားသည့် တပ်ဗိုလ်တစ်ဦး ဖြစ် ၏။ ၎င်းတစ်ကိုယ်လုံးမှာ အဝတ်အစား ဖရိုဖရဲ စိုရွှဲ လျက် ရှိလေသည်။ ၎င်းနောက် ခြေရင်းကွင်းတွင် မတ်တတ်ရပ် ၍ သုံးချောင်းထောက် စီးလာသူမှာ ကော့ဆက်မြင်းတပ် သားတစ်ယောက် ဖြစ်သည်။ နှင်းဆီသွေးတောက်နေသည့် မျက်နှာဝိုင်းဝိုင်း၊ တောက်ပ ထက်သန်သော မျက်လုံးများ ရှိသည့် တပ်ဗိုလ်လေးသည် ဒင်နီဗ်ထံ ဒုန်းစီးလာ ကာ ရေစိုလျက်ရှိသော စာအိတ်တစ်လုံးကို လှမ်းပေး လိုက်သည်။

"ဗိုလ်ချုပ်ဆီက စာပါ ဗိုလ်မှူး တပ်ဗိုလ်ကလေး က ဆို၏။ "စာအိတ် ရေစို သွားတဲ့အတွက် ခွင့်လွှတ်ပါ ဒင်နီဆော့ဗ်က မျက်မှောင်ကုတ်လိုက်ကာ စာအိတ် ကို ယူ၍ ဖွင့်လိုက်၏။

"အန္တရာယ်များတယ်လို့ တဖွဖွ ပြောလိုက်ကြတာ ပဲ ခင်ဗျ" ဒင်နီဆော့ဗ်က စာကိုဖတ်လျက်ရှိစဉ် တပ်ဗိုလ် ကလေးက ကော့ဆက်ဗိုလ်ကြီးလိုဗေစကီကို

လှမ်းပြော လိုက်၏။ “ဒါပေမဲ့ ကျွန်တော်နဲ့ ဟောဒီရဲဘော်ကိုမာ ရှော့ဗ်တို့ ကတော့”

- ၎င်းက အတူပါလာသူ ကော့ဆက်မြင်းတပ်သား ကို လက်ညှိုးထိုးပြလိုက်သည်။ ပြီးမှ ဆက်၍

”ဘယ်လိုအန္တ ရာယ်မျိုးတွေ့တွေ့ အဆင်သင့်ပဲ ခင်ဗျ။ ကျွန်တော်တို့မှာ ပြောင်းတိုသေနတ်နှစ်လက်စီ ပါတယ်။ အလို၊ သူက”

တပ်ဗိုလ်လေးသည် သုံ့ပန်းပြင်သစ် ဘင်တီး စစ်သားကလေးကို မြင်လိုက်ရာမှ မေးလိုက်၏။

“သြော်၊ သုံ့ပန်းလား။ ဘာလဲ ဗိုလ်ကြီး၊ တိုက်ပွဲ တောင် ပြီးသွားပလား။ ကျွန်တော် သူနဲ့ စကားပြောခွင့် ရမလား”

“ဟေး ပီတာ” ဒင်နီဆော့ဗ်က စာကို ဖတ်ပြီး နောက် အားရဝမ်းသာ အော်လိုက်၏။ “ဘာဖြစ်လို့ စောစောက မပြောတာလဲကွ”

ဒင်နီဆော့ဗ်သည် ဤသို့ပြောကာ တပ်ဗိုလ်ကလေး အား လက်ကမ်း ပေးလိုက်၏။

ထိုတပ်ဗိုလ်ကလေးကား မြို့စားကြီးရော့စတော့ဗ် ၏ သားထွေး ပီတာရော့စတော့ဗ်ပေတည်း။

ပီတာသည် ဒင်နီဆော့ဗ်နှင့်တွေ့လျှင် မည်သို့မည် ပုံ ဆက်ဆံမည်။ မိမိတို့ အသိအကျွမ်း ဖြစ်ခဲ့ဖူးခြင်းကို အရိပ်အယောင်မျှ မပြဘဲ မိမိသည် တပ်ဗိုလ်တစ်ဦး၊ လူ . ကြီးတစ်ဦးဖြစ်သည့်အလျောက် ဂုဏ်သိက္ခာရှိရှိ မည်သို့ မည်ပုံ ဆက်ဆံမည် ဟု လမ်းတစ်လျှောက်လုံး တွေးလာ ခဲ့သည်။ သို့ရာတွင် ဒင်နီဆော့ဗ်က ဝမ်းသာ အားရ နှုတ် ဆက်လိုက်သည်နှင့် တစ်ပြိုင်နက် ပီတာ၏ မျက်နှာသည် ဝင်းထိန်

တောက်ပရာက ဝမ်းသာခြင်းကြောင့် ရဲတက် လာကာ မိမိအနေဖြင့် တပ်ဗိုလ်တစ်ဦး ပီသစွာ ဆက်ဆံ မည်ဟု တွေးလာခဲ့သမျှတို့ကို မေ့လျော့သွားခဲ့လေပြီ။ ထို့နောက်၌ ပီတာသည် ဗျာဇမာအနီးတိုက်ပွဲတွင် မိမိ မည်သို့မည်ပုံ ဝင်ရောက်တိုက်ခိုက်ခဲ့ပုံ၊ ထိုတိုက်ပွဲ၌ မြင်း တပ်သားတစ်ဦးအဖြစ် မည်သို့ ရဲရင့်စွာတိုက်ခဲ့ပုံ စသည် တို့ကို ဖောင်လောက်အောင် ပြောလျက် ရှိလေသည်။

"အေးကွာ၊ တွေ့ရတာ ဝမ်းသာတယ်" ဒင်နီ ဆော့ဗ်က ကြားဖြတ်၍ပြောလိုက်၏။ ၎င်း၏မျက်နှာသည် စောစောကကဲ့သို့ပင် စိုးရိမ်သည့်အသွင်ကို ဆောင်လာပြန် လေသည်။

"မျိုး့ ဗိုလ်ကြီးလိုဗေစကီ"ဟု ကော့ဆက်ဗိုလ်ကြီး ကို ခေါ်လိုက်သည်။ "ဂျာမန်ဗိုလ်ချုပ်ဆီက စာတစ်စောင် လာပြန်ပြီဗျ။ သူက (ပီတာကို လက်ညှိုးထိုး၍ ပြလိုက် သည်။) အဲဒီ ဂျာမန်ဗိုလ်ချုပ်ရဲ့ တပ်က"

ယခုရောက်ရှိလာသောစာမှာ ပြင်သစ်ထောက်ပို့ ( တပ်များကို တိုက်ရာတွင် ပါဝင်ရန် မိမိအား ထပ်မံအခေါ် လွှတ်လိုက်သော ဂျာမန်ဗိုလ်ချုပ်၏စာဖြစ်ကြောင်းဖြင့် ဒင်နီဆော့ဗ်က လိုဗေစကီကို ပြောပြလျက် ရှိသည်။

"မနက်ဖြန်မှာ ကျုပ်တို့မတိုက်ရင်တော့ ဂျာမန် ဗိုလ်ချုပ်ရဲ့ ပြောက်ကျားတွေက ဝင်ချသွားတော့မှာပဲဗျ" ဟု ထပ်ပြောလိုက်သည်။

ဒင်နီဆော့ဗ်နှင့် လိုဗေစကီတို့ စကားပြောနေကြ စဉ် ဒင်နီဆော့ဗ်၏ အေးစက်တင်းမာသော လေသံနှင့် တကွ ဤသည်မှာ ပုံပျက်ပန်းပျက်ဖြစ်လျက်ရှိသော မိမိ ဘောင်းဘီကြောင့်ဟု ထင်လိုက်သဖြင့် ပီတာသည် ဝတ် ရုံအကျႌကြီးအောက်သို့ လက်လျှိုကာ ဘောင်းဘီကို လူ မမြင်အောင် ဖြေချလိုက်ပြီးနောက် အတတ်နိုင်ဆုံး စစ် ဟန်ပေါက်အောင် နေလိုက်သည်။

“အမိန့်ပေးစရာ ရှိသေးသလား ဗိုလ်မှူး” ပီတာ က လက်ချောင်းနှစ်ချောင်း ကို ဦးထုပ်စွန်းတွင် ကပ်၍ အရိုအသေပေးရင်း မေးလိုက်သည်။ ပီတာမှာ ၎င်း၏ ဂျာမန်ဗိုလ်ချုပ်ဆီတွင် တပ်ရေးဗိုလ်ဖြစ်ရန် အလားအလာ ရှိသူဖြစ်သည့် အလျောက် ဒင်နီဆော့ဗ်ကို မေးရာတွင် လည်း တပ်ရေးဗိုလ်က ဗိုလ်ချုပ်တစ်ဦးကို မေးသည့် လေသံဟန်ပန်မျိုးဖြင့် မေးလိုက်သည်။ “ဒါမှမဟုတ်ရင် လဲ ကျွန်တော် ဗိုလ်မှူးနဲ့အတူ နေရမလား ဗိုလ်မှူး”

“အမိန့်လား” ဒင်နီဆော့ဗ်က ခပ်တွေတွေစဉ်းစား ရင်း ပြောလိုက်၏။ “မင်း မနက်ဖြန်အထိ နေနိုင်ပါ့ မလား”

“ဟုတ်ကဲ့ ဗိုလ်မှူး။ နေနိုင်ပါတယ်”

“မင်း ဗိုလ်ချုပ်က ဘယ်လိုမှာလိုက်သလဲ။ ချက် ချင်းပြန်လာခဲ့ရမယ်လို့ မှာလိုက်သလား” ဒင်နီဆော့ဗ် က မေးသည်။

ပီတာ၏ မျက်နှာသည် နီရဲသွား၏။

“ဘာမှ အမိန့်မပေးလိုက်ပါဘူး ဗိုလ်မှူး နေနိုင် ပါလိမ့်မယ်လို့ ထင်ပါတယ်” ပီတာက ဇဝေဇဝါဖြင့် ပြောလိုက်သည်။

”အေး၊ ဒါဖြင့်လဲ မနက်ဖြန်အထိ နေဦးကွာ”

ထိုနောက် ဒင်နီဆော့ဗ်သည် ၎င်း၏လူများဘက် သို့ လှည့်ကာ တောထဲရှိ သစ်ခုတ်သမားတဲအနီးမှ သတ် မှတ်ထားရာစုရပ်တွင် သွားနေကြရမည် ဖြစ်ကြောင်း အစု တစ်စုကို လှမ်းပြောလိုက်ပြီးနောက် ကာဂျစ်မြင်းပိန်ကလေး ကို စီးလာသည့် တပ်ဗိုလ်ကိုမူ (၎င်းမှာ ဒင်နီဆော့ဗ်၏ တပ်ရေးအဖြစ် ဆောင်ရွက်

သည်။) ဒိုလိုကော့ဗ်ကို လိုက် ရှာရန်နှင့် ညနေတွင်လာ၊ မလာကို စုံစမ်းခဲ့ရန် မှာကြား လိုက်သည်။ ၎င်းကိုယ်တိုင်မှာလည်း ကော့ဆက်ဗိုလ်ကြီး လိုဗေစကီ၊ ပီတာတို့နှင့်အတူ ရှန်ရှီဗိုရွာနားက တောစပ်သို့ သွားရန် မိမိတို့နောက်တစ်နေ့တွင် စီးနင်းရန်၊ ကြံရွယ်သည့် ပြင်သစ်ထောက်ပို့ ကွင်းစခန်းကို သွားရောက်အကဲခတ်ရန် စိတ်ကူးထားသည်။

“ါ ဦးကြီး။ ကျုပ်တို့ကို ရှန်ရှီဗိုရွာဘက် ပြ စမ်းဗျာ”ဟု လယ်သမားလမ်းပြကို လှမ်းပြောလိုက်လေ သည်။

ဒင်နီဆော့ဗ်၊ ပီတာ၊ ကော့ဆက်ဗိုလ်ကြီး လိုဗေ စကီ၊ ကော့ဆက်မြင်းတပ်သားအချို့နှင့် သုံ့ပန်းဘင်တီး စစ်သားကလေးနှင့်အတူ မြင်းတစ်စီးတည်းစီးသည့် မြင်း တပ်သားတို့သည် လျှိုကလေးတစ်ခုကို ဖြတ်ကာ လက်ဝဲ ဘက် တောအုပ်ဆီသို့ စီးလာခဲ့ကြသည်။

# အခန်း ၅

မိုးတိတ်သွားခဲ့လေပြီ။ နှင်းမှုန်ကလေးများနှင့် သစ်ပင်မှ မိုးစက်များသာ တဖြောက်ဖြောက်ကျလျက် ရှိလေပြီ။ ဒင်နီဆော့ဗ်၊ ကော့ဆက်ဗိုလ်ကြီးနှင့် ပီတာတို့သည် ချည်ဦးထုပ်ဆောင်းထားသည့် လယ်သမားလမ်းပြနောက် မှ တိတ်ဆိတ်စွာ မြင်းစီးလိုက်လာခဲ့ကြသည်။ လယ် သမား လမ်းပြသည် ခြေဖျားများကို ကော့လှန်၍ ပေါ့ပါး သွက်လက်စွာ လှမ်းကာ သစ်မြစ်များ၊ သစ်ရွက်စိုများပေါ်တွင် ၎င်း၏ လျှော်ဖိနပ်ဖြင့် အသံမမြည်အောင် ကျော်လွှားရင်း တောစပ်ဆီသို့ ၎င်းတို့ကို ခေါ်ဆောင် သွားလေသည်။

လယ်သမားလမ်းပြသည့် ကမူကလေးတစ်ခုပေါ် သို့ တက်သွားပြီးနောက် ဘေးပတ်ဝန်းကျင်ကို လှမ်း ကြည့်လိုက်ကာ သစ်တောပါးရာသို့ ၎င်းတို့ကို ခေါ် သွား သည်။ အရွက်မကြွေသေးသော ဝက်သစ်ချပင်အိုကြီး တစ်ပင်အနားသို့ ရောက်သည့်အခါ၌ ရပ်၍ ၎င်းတို့အား အရေးတကြီး လက်ယပ်ခေါ်လိုက်သည်။

ဒင်နီဆော့ဗ်နှင့် ပီတာတို့သည် ၎င်းထံသို့ မြင်းစီး လာခဲ့ကြသည်။ ၎င်းရပ်နေရာမှ ကြည့်လျှင် ပြင်သစ်တပ် များကို မြင်ရလေသည်။ တောစပ်မှလွန်လျှင် ကုန်းစောင်း ကလေးတစ်ခုပေါ်၌ ဆောင်းဦးပေါက်ခင်းတစ်ခင်းကို တွေ့ရ၏။ လက်ဝဲဘက်ချောက်ကမ်းပါးတစ်ခု အလွန်၌ ကား ရွာကလေးတစ်ရွာနှင့် အမိုးတစ်ဝက်လန်လျက်ရှိသော မြေပိုင်ရှင်၏ အိမ်တစ်လုံးကို မြင်တွေ့ရသည်။ ရွာထဲတွင် လည်းကောင်း၊ အိမ်ထဲတွင် လည်းကောင်း၊ ခြံထဲတွင် လည်းကောင်း၊ ရေတွင်းဘေးတွင် လည်းကောင်း၊ ကန်ဘေး တွင် လည်းကောင်း၊ ကုန်းမြင့်များ ပေါ်တွင် လည်းကောင်း၊ ရွာဆီသို့သွားသော ကိုက်ငါးရာခန့်ဝေးသည့် တံတား အလွန် ကုန်းအတက်ကလေးတွင် လည်းကောင်း လူများ လှုပ်ရှား လျက် ရှိခြင်းကို နှင်းမှုန်ထဲတွင် မြင်နေရသည်။ ကုန်း အတက်တွင် လှည်းများကို ဆွဲနေသော မြင်းများကို ငေါက်သံ၊ တစ်ယောက်နှင့်တစ်ယောက် အော်ဟစ်ပြောဆို သံများကို အတိုင်းသား ကြားနေရသည်။ ထိုအသံများမှာ ရုရှားသံများ မဟုတ်ချေ။

"သုံ့ပန်းကောင်လေးကို ခေါ်ခဲ့စမ်းဟေ့" ဒင်နီ ဆော့ဗ်က ပြင်သစ်များကို လှမ်းကြည့်ရင်း ခပ်တိုးတိုး ပြောလိုက်သည်။

ကော့ဆက်မြင်းတပ်သားတစ်ယောက်က မြင်းမှ ဆင်းကာ ပြင်သစ်တပ်သားကလေးကို အောက်ချပေးလိုက် ပြီး ဒင်နီဆော့ဗ်ထံ ခေါ်လာသည်။ ဒင်နီဆော့ဗ်က ပြင်သစ်တပ်များကို လက်ညှိုးထိုးပြကာ မည်သည့်တပ်များ ဖြစ်ကြောင်းကို မေးမြန်းခြင်းပြုလေသည်။ ပြင်သစ်သို့ ပန်းသည် အေးစက်လျက်ရှိသော

၎င်း၏လက်များ အိတ် ထဲသို့ သွင်းထားရင်း ဒင်နီဆော့ဗ်အား ကြောက်လန့် တကြားဖြင့် မျက်ခုံးပင့်ကြည့်လိုက်၏။ သို့ရာတွင် ရှင်း ရှင်းလင်းလင်းမဖြေနိုင်ဘဲ အရှုပ်ရှုပ် အထွေးထွေးဖြစ်ကာ ဒင်နီဆော့ဗ် မေးမြန်းသမျှကို ခေါင်းလိုက်ပိတ်လျက် ရှိ၏။ ဒင်နီဆော့ဗ်သည် မျက်မှောင်ကုတ်ကာ ကော့ဆက် ဗိုလ်ကြီးဘက်သို့ လှည့်၍ မိမိ၏ ထင်မြင်ချက်များကို ဝင် ပြောဆိုလျက် ရှိလေသည်။

"ပီတာသည် ခေါင်းကို ဆတ်ခနဲလှည့်ကာ ဘင်တီး သမား ပြင်သစ်ကလေးကို တစ်လှည့်၊ ဒင်နီဆော့ဗ်ကို တစ်လှည့်၊ ကော့ဆက်ဗိုလ်ကြီးကို တစ်လှည့်၊ ရွာထဲနှင့် လမ်းတစ်လျှောက်ရှိ ပြင်သစ်များကို တစ်လှည့် လိုက်ကြည့် ရင်း အရေးကြီးသည့် အချက်မှန်သမျှကို ဂရုတစိုက် နား ထောင်လျက် ရှိသည်။

"ဒီလိုကော့ဗ် လာလာ မလာလာဗျာ၊ ကျုပ်တို့ ချည်းပဲ ဝင်တိုက်မယ်။ ဘယ့်နှယ်လဲ" ဒင်နီဆော့ဗ်က မျက်လုံးတွင် မြူးထူးထက်သန်သည့် အရောင်များ ယှက် သန်းလျက်ရှိရင်းက ပြောလိုက်၏။

"အကွက်ကတော့ အကွက်ကောင်းပဲခင်ဗျ" ကော့ ဆက်ဗိုလ်ကြီး၏ အသံဖြစ်၏။

"ခြေလျင်တပ်ကို ဟိုဘက်က စိမ့်တောကြီးထဲက သွားချထားမယ်" ဒင်နီဆော့ဗ် ဆက်ပြောလိုက်သည်။ အဲဒီကနေပြီးမှ ခြံထဲကကောင်တွေကို ဝင်ချ။ ခင်ဗျားနဲ့ မြင်းတပ်တွေက ဟောဟိုဘက်က ဝင်"

ဒင်နီဆော့ဗ်က ရွာအလွန်တောအုပ်ဘက်သို့ ညွှန် ပြ၏။

"ပြီးတော့ ကျွန်တော်နဲ့ ကျွန်တော့်မြင်းတပ်က ဒီကနေ ပြီးဝင်မယ်။ ဘယ့်နှယ်လဲ။ စဝင်ချိန်မှာ သေနတ် တစ်ချက်ဖောက်ပြီး အချက်ပေး"

“ဟိုဘက်နားက နောက်က ကူးလို့မရဘူး ဗိုလ် မှူး။ ဗွက်တွေ ရှိတယ်” ကော့ဆက်ဗိုလ်ကြီးက ဆိုသည်။ “မြင်းတွေအကုန် ဗွက်နစ်ကုန်လိမ့်မယ်။ ဒီတော့ ကျွန် တော်တို့က လက်ဝဲဘက်က ကွေ့ပြီး”

၎င်းတို့နှစ်ဦး ဤသို့ တီးတိုးတိုင်ပင်နေကြခိုက် ကမူအောက် ရေကန်ဘေးဆီမှ သေနတ်သံတစ်ချက် ထွက်လာကာ မီးခိုးတန်းတဖ်ခု ထွက်လာ၏။ နောက် တစ်ချက် ထွက်လာပြန်ကာ တစ်ယောက်ကိုတစ်ယောက် ဝမ်းသာအားရဖြင့် လှမ်း အော်နေကြဟန် ရှိသည့် ပြင်သစ် သံများကို တောင်ကမူစောင်းဆီမှ ကြားလိုက်ရ သည်။ ဒင်နီဆော့ဗ်နှင့် ကော့ဆက်ဗိုလ်ကြီးတို့သည် ခေတ္တဆုတ် လာခဲ့ကြ၏။ ၎င်း တို့မှာ နီးကပ်လျက်ရှိသည့်အတွက် ၎င်းတို့ကို မြင်၍ ပစ်ခတ်အော်ဟစ်နေခြင်း ဖြစ်သည်ဟု ထင်လိုက်မိ၏။ သို့ရာတွင် ပစ်ခတ်သံနှင့် အော်သံများ  သည် ၎င်းတို့ နှင့် ပတ်သက်ခြင်း မရှိချေ။ တောင်ကမူ ခြေရင်း၌ အနီရောင်ကို ဝတ်ဆင်ထား သည့် လူတစ်ယောက် သည် ရွံ့စပ်စပ်ကိုင်းတောထဲတွင် ပြေးလွှားလျက်ရှိရာ ပြင် သစ်များက ၎င်းတို့ကို မြင်၍ ပစ်ခတ်အော်ဟစ်နေ ခြင်း ဖြစ်သည်။

“အလို ဗိုလ်မှူး၊ ကျွန်တော်တို့လူ ရှာဗေတီပါ လား”

ကော့ဆက်ဗိုလ်ကြီးက ပြောလိုက်သည်။ “ဟုတ်တယ်ဗျို့ အစစ်ပဲ”

”ခွေးမသား လုပ်ပြီ” ဒင်နီဆော့ဗ်က ပြောလိုက်

”လွတ်တော့သွားပြီ ဗိုလ်မှူးရေ” ကော့ဆက်ဗိုလ် ကြီးက မျက်လုံးများကို မှေး၍ ကြည့်ရင်း ပြောလိုက်၏။

ရှာတီဟု ၎င်းတို့ခေါ်ကြသည့် အဝတ်နီနီနှင့် လူသည် ကိုင်းတောစပ်မှ ပြေး ထွက်လာကာ ချောင်းရိုး ကလေးတစ်ခုထဲသို့ ခုန်ချလိုက်၏။ ရေမြွှာကလေးများ သည် လေထဲတွင် ပျံ့ဝဲလျက်ရှိသည်။ ထိုလူသည် ရေထဲ တွင် ခေတ္တမျှ မြုပ်သွားပြီး

နောက် တစ်ကိုယ်လုံး စိုရွဲ လျက်ရှိခြင်းကြောင့် မည်းမည်း မည်းမည်းဖြင့် တစ်ဖက် ကမ်းသို့ လေးဘက်ထောက် တက်လာကာ ဆက်ပြေး လျက်ရှိ၏။ ၎င်းနောက်က လိုက်လာသော ပြင်သစ်များ မှာ ချောင်းရိုးတစ်ဖက်ကမ်းတွင် ကျန်ရစ်ခဲ့ကြသည်။

"တော်သေးတာပေါ့ကွာ" ကော့ဆက်ဗိုလ်ကြီး ( က ပြော၏။

"ခွေးတိရစ္ဆာန်" ဒင်နီဆော့ဗ်က စိုးရိမ်မပြေသေး သည့် ဟန်ဖြင့် ဆဲလိုက် သည်။ "တစ်ချိန်လုံး ဘာလုပ်နေ သလဲ မသိဘူး"

"သူက ဘယ်သူလဲ ဗိုလ်မှူး" ပီတာက မေး၏။

"တို့ လက်ဖြောင့်တပ်သားလေကွာ။ "လျှာတစ် ချောင်း" ဖြတ်ယူလာဖို့ လွှတ်လိုက်တာ"

"ဩော်၊ ဟုတ်လား" ပီတာက ဒင်နီဆော့ဗ်၏ စကားများကို နားမလည် သော်လည်း နားလည်လေဟန် ခေါင်းတညိတ်ညိတ်လုပ်နေသည်။

ရှာဗေတီမှာ ဒင်နီဆော့ဗ်တို့ ပြောက်ကျားတပ်စု တွင် မပါမပြီးသည့် လူတစ် ယောက်ဖြစ်၏။ ၎င်းမှာ ဂဇတ်မြစ်အနီးရှိ ပေါက္ကရို့ ရွာမှ လယ်သမားတစ်ဦး ဖြစ် သည်။ ဒင်နီဆော့ဗ်၏ ပြောက်ကျားတပ်စု စတင်လှုပ် ရှားစဉ်က ထိုရွာသို့ ရောက် သွားသောအခါတွင် ထုံးစံ အတိုင်း ရွာလူကြီးတစ်ယောက်ကို ဆင့်ခေါ်ကာ ပြင် သစ် တို့ ဤနေရာတစ်ဝိုက်တွင် ရှိသလောဟု မေးမြန်းခဲ့သည်။ ထိုအခါတွင် ရွာ လူကြီးက ဤနေရာတစ်ဝိုက်တွင် ပြင်သစ် များရှိသည်ကို မြင်လည်း မမြင်ဖူး၊ ကြားလည်း မကြား ဖူးဟု (ရွာလူကြီး၏ ထုံးစံအတိုင်း) ကိစ္စပြတ်ပြောလိုက် သည်။ ဒင်နီဆော့ဗ်က မိမိသည် ပြင်သစ်များကို တိုက်ရန် လာခြင်းဖြစ်ကြောင်း၊ ထို့ကြောင့် ဤနေရာတစ်ဝိုက်သို့ ပြင်သစ်တပ်များ ဖြတ်သန်းခြင်း ရှိမရှိ မေးမြန်း သည့် အခါတွင် ရွာလူကြီးက အချို့ပြင်သစ်စစ်ပြေးများ တစ်ခါ တစ်ရံ ရောက်လာ

တတ်ကြောင်း၊ သို့ရာတွင် ဤကိစ္စများ ကို နားလည်သူမှာ တီကွန်ရှာဗေတီ ဖြစ်ကြောင်းဖြင့် ပြော၏။ ဤတွင် ဒင်နီဆော့ဗ်သည် ရှာဗေတီကို အခေါ် လွှတ်လိုက်ပြီးနောက် ရှာဗေတီအား ၎င်း၏ လုပ်ငန်းများ အတွက် ချီးကျူးပြောဆိုကာ တိုင်းပြည်နှင့် ဇာဘုရင်ကို သစ္စာရှိရန်လိုကြောင်း၊ ပြင်သစ်တို့ကို မုန်းတီးရွံရှာသင့် ကြောင်း၊ တိုင်းပြည်၏ သားကောင်း ရတနာတိုင်း ဤ လို စိတ်ဓာတ်မျိုး မွေးသင့်ကြောင်းဖြင့် ရွာလူကြီးရှေ့တွင် ပြောကြားခြင်းပြုသည်။

"မ မဟုတ်ပါဘူး ခင်ဗျာ။ ကျွန်တော်တို့ ပြင်သစ် တွေကို ဘာမှအန္တ ရာယ် မပေးပါဘူး ဗိုလ်ကြီးခင်ဗျာ" ရှာဗေတီမှာ ဒင်နီဆော့ဗ်၏ စကားများကို လန့်လျက်ရှိလေပြီ။ "တစ်ခါတလေ အရပ်က ကာလသားတွေနဲ့ အပျင်းပြေ လိုက်တိုက်ကြတာလောက်ပဲ ရှိပါတယ် ခင် ဗျာ။ ကျွန်တော်တို့ ပြင်သစ်တပ်ပြေးအချို့ကို သတ်ခဲ့တယ် ဆိုတာတော့ အမှန်ပါပဲ ခင်ဗျာ။ ဒါပေမဲ့ ကြီးကြီးကျယ် ကျယ် အန္တ ရာယ် တော့"

နောက်တစ်နေ့ ပေါက္ကရို့ ရွာမှ ထွက်လာသောအခါ ၌ ဒင်နီဆော့ဗ်သည် ထိုလယ်သမားရှာဗေတီကို လုံးလုံး သတိမရတော့ချေ။ သို့ရာတွင် ရှာဗေတီသည် မိမိတို့ ပြောက်ကျားတပ်စုနှင့်အတူ ပါလာကြောင်း၊ တပ်တွင် လိုက်ပါလာခွင့် တောင်းထားကြောင်းဖြင့် ကြားသိရ၏။ ဒင်နီဆော့ဗ်သည် ရှာဗေတီကို လက်ခံရန် အမိန့်ပေးလိုက် သည်။

ပထမသော် ရှာဗေတီသည် တပ်စုထဲတွင် အလုပ်  ကြမ်းလုပ်ရ၏။ စခန်း မီးဖိုခြင်း၊ ရေခပ်ခြင်း၊ မြင်းသေ များကို မြှုပ်နှံခြင်း စသည့် ဗာဟီရတို့ကို ပြုလုပ်ရသည်။ နောက်တွင်မူ ရှာဗေတီသည် ပြောက်ကျားတိုက်ပွဲဆင်ရ ခြင်းကို နှစ်ခြိုက်ဝါသနာပါလာခဲ့လေသည်။ ညအချိန် များ၌ ရှာဗေတီသည် လက်ရပစ္စည်းယူရန် ထွက်သွား တတ်ပြီး ပြင်သစ်စစ်ဝတ်စုံများ၊ လက်နက်များကို ယူလာ တတ်သည်။

စေခိုင်းခြင်း ပြုပါက ပြင်သစ်တို့ကို အရှင် ဖမ်းလာတတ်သေးသည်။ ဤတွင် ဒင်နီ ဆော့ဗ်သည် ရှာ ဗေတီအား အလုပ်ကြမ်းမလုပ်စေတော့ဘဲ တိုက်ပွဲထွက် လျှင် ခေါ်လာလေ့ရှိကာ ကော့ဆက်မြင်းတပ်များနှင့် တွဲ ပေးထားလိုက်သည်။

ရှာဗေတီသည် မြင်းစီးဝါသနာပါသူ မဟုတ်ချေ။ ထို့ကြောင့် အမြဲတမ်း ခြေလျင်လိုက်လေ့ရှိ၏။ မြင်းတပ် နောက်တွင် ကျန်ရစ်ခဲ့သည်ဟူ၍ကား တစ်ခါမျှ မရှိဖူး ချေ။ ရှာဗေတီကို တစ်လုံးထိုး သေနတ်တစ်လက် ပေး ထားသော်လည်း (ရှာဗေတီသည် ထိုသေနတ်ကို နောက် ပြောင်ကျီစယ်သည့် သဘောဖြင့် ကိုင်ခြင်း ဖြစ်၏။) ထို သေနတ်ကို သုံးလေ့မရှိဘဲ ခက်ရင်းတစ်ချောင်းနှင့် ပုဆိန် တစ်လက်ကိုသာ လက်စွဲပြုလေ့ရှိ၏။ ပုဆိန်ကို ရှာဗေတီ နိုင်နိုင်နင်းနင်း သုံးစွဲပုံမှာ အံ့သြလောက်ပါပေသည်။မိမိ ၏ အမွေးထဲမှ သန်းများကို ဖမ်းရာတွင် လည်းကောင်း၊ ( အရိုးကြီးများကို ကိုက်ဝါးရာတွင် လည်းကောင်း၊ ဝံပုလွေ တစ်ကောင်သည် ၎င်း၏သွားများကို ကျင်လည် ဖျတ်လတ် စွာ အသုံးပြုလေ့ရှိသကဲ့သို့ ရှာဗေတီသည်လည်း ပုဆိန်ကို ကျွမ်းကျင်စွာ အသုံးပြုတတ်လေသည်။ ထို့မျှမက ရှာဗေ တီသည် လက်တစ်ကမ်းအကွာမှနေ၍ သစ်တုံးများကို လည်း မှန်းသည့်နေရာတွင် တိခနဲ ကွဲအောင် ခွဲနိုင်၏။ ပုဆိန်ခေါင်းကို ကိုင်၍ သစ်သားခွက်ပါးပါးကလေးများ၊ သစ်သားဇွန်းကလေးများလည်း ထွင်းတတ်သည်။ ဒင်နီ ဆော့ဗ်၏ ပြောက်ကျားတပ်စု၌ ရှာဗေတီသည် အများနှင့် မတူ ထူးခြားသော အနေအထား ကို ရသူတစ်ဦး ဖြစ်လေ သည်။ လှည်းကို ဗွက်ထဲမှ တစ်ယောက်တည်း ပခုံးဖြင့် ထမ်းတင်ရမည့်ကိစ္စမျိုး၊ မြင်းတစ်ကောင်ကို အမြီးဆွဲ၍ ဗွက်ထဲမှ ဆွဲတင်ရမည့် ကိစ္စမျိုး၊ မြင်းရေဆုတ်ရမည့်ကိစ္စ မျိုး၊ ပြင်သစ်စခန်းထဲသို့ တိတ်တဆိတ် ဝင်ရမည့် ကိစ္စ မျိုး၊ တစ်နေ့လျှင် မိုင်သုံးဆယ်လောက် ခရီးပေါက်အောင် သွားရမည့် ကိစ္စမျိုး စသည့် ခက်ခဲ၍ ညစ်ပတ်သဖြင့် လူတိုင်းမလုပ်နိုင်သည့် ကိစ္စမျိုး ပေါ်လာ

သည့်အခါမျိုး၌ အားလုံးကပင် ရယ်ရယ်မောမောနှင့် ရှာဖေတီကိုပင် လက်ညှိုးထိုး ပြတတ်ကြသည်။

"ရှာဖေတီတို့က ဒီလောက်တော့ အပျော့ပေါ့။ မြင်းတစ်ကောင်လောက် နီးပါးသန်တာ"ဟု ၎င်းတို့က " ပြောလေ့ရှိကြသည်။

တစ်ခါက ရှာဖေတီသည် ပြင်သစ်တစ်ယောက် ကို အရှင်ဖမ်းရာတွင် ပြင်သစ်က ၎င်းအား တင်ပါးကို သေနတ်နှင့် လှမ်းပစ်၏။ ထိုဒဏ်ရာရပုံ အဖြစ်အပျက်မှာ ပြောက်ကျားတပ်စုထဲတွင် အရယ်ရဆုံးသော "ပြက် လုံး"တစ်ခုဖြစ်လျက် ရှိသည်။ (ရှာဖေတီသည် အရက်ကို လိမ်းဆေးသောက်ဆေးအဖြစ် အသုံးပြု၍ ထိုဒဏ်ရာကို ကုသသည်။) ရှာဖေတီသည် ရယ်စရာပုံတိုပတ်စကလေး များကိုလည်း သဘောကျတတ်သည်။ "

"ါ ရှာဖေတီ။ ဘယ့်နှယ်လဲ။ ခင်ဗျား အဆော် ခံထိလာတော့ နောက်ထပ်မဖမ်းရဲတော့ဘူး မဟုတ်လား" ဟု ကော့ဆက်မြင်းတပ်သားများက ရှာဖေတီကို စလေ့ ရှိသည်။ ထိုအခါမျိုး၌ ရှာဖေတီသည် ကိုယ်ကို တွန့် လိမ်လျက်၊ မျက်နှာကြီးမဲ့လျက်ဖြင့် စိတ်ဆိုးဟန်ဆောင် ကာ ပြင်သစ်တို့ကို ရယ်စရာအကောင်းဆုံးသော စကား များဖြင့် ဆဲရေးလေ့ရှိသည်။ ဤအဖြစ်အပျက်ကြောင့် ရှာဖေတီတွင် သက်ရောက်သည့် တစ်ခုတည်းသောအကျိုး မှာ ဒဏ်ရာရပြီးနောက် ပြင်သစ်တို့ကို နောက်ထပ်သုံ့ပန်း မဖမ်းခိုင်းတော့ခြင်းသာ ဖြစ်သည်။

ရှာဖေတီသည် ပြောက်ကျားတပ်စုတွင် အရဲရင့် ဆုံး၊ အသုံးဝင်ဆုံး လူတစ်ယောက် ဖြစ်သည်။ ပြင်သစ် တို့ကို မည်သူမျှ ရှာ၍မရသည့်အခါ ပြင်သစ်တို့ကို နောက် ထပ် မည်သူဖမ်းဆီးရမိခြင်း၊ သတ်ဖြတ်ခြင်းမပြုနိုင်သည့် အခါမျိုးတွင် ကော့ဆက်များနှင့် မြင်းတပ်သားများသည် ရှာဖေတီကို "လူပြက်"နေရာထားကာ ကျီစယ်ကြသည်။ ရှာဖေတီကလည်း ၎င်းတို့ပေးသော "လူပြက်'နေရာကို နှစ်

နှစ်မြိုက်မြိုက် လက်ခံသည်သာ ဖြစ်လေသည်။ ယခု သော် ဒင်နီဆော့ဗ်က ပြင်သစ်လျှာတစ်ချောင်းကို ဖြတ် ခဲ့၍ ညတွင်းချင်းပြန်ခဲ့ရမည်ဟု ၎င်းအား ရှန်ရှီဗိုရွာသို့ လွှတ်လိုက်သည်။ သို့ရာတွင် ပြင်သစ်တစ်ယောက်တည်း ဖမ်းဆီးရခြင်းကို မကျေနပ်၍လော သို့မဟုတ် မနေ့ညက တောထဲတစ်နေရာတွင် အိပ်ပျော်နေခြင်းကြောင့်လော အဘယ်အကြောင်းကြောင့် ဟူ၍ကား မသိ။ ရှာဗေတီသည် နေ့ခင်းကြောင်တောင်ကြီးတွင် ချုံကြားထဲမှ တိုး၍ ပြင်သစ် စခန်းထဲသို့ ဝင်သည်တွင် ပြင်သစ်တို့ တွေ့မြင်သွားကာ (အထက်တွင် ဒင်နီဆော့ဗ် မြင်ခဲ့ရသည့်အတိုင်း) အလိုက်ခံ ခဲ့ရခြင်း ဖြစ်ပေသတည်း။

# အခန်း ၆

နောက်တစ်နေ့တိုက်ပွဲနှင့် ပတ်သက်၍ ကော့ဆက်ဗိုလ် ကြီးနှင့် အချိန်အတန်ကြာ ဆွေးနွေးပြီးနောက် ဒင်နီဆော့ဗ် သည် မြင်းကို ပြန်လှည့်စီးခဲ့လေသည်။ ဒင်နီဆော့ဗ်သည် မိမိတို့အနီးတွင် ပြင်သစ်များ နီးကပ်စွာ ရှိနေခြင်းကို မြင်သည်၌ နောက်တစ်နေ့တွင် တိုက်ပွဲတိုက်ရန် ဆုံးဖြတ် လိုက်ဟန် တူပေသည်။

“လာဟေ့ ပီတာ၊ ခပ်နွေးနွေးကလေးဖြစ်အောင် လုပ်လိုက်ကြဦးစို့” ဒင်နီဆော့ဗ်က ပီတာသို့ လှမ်းပြော လိုက်သည်။

သစ်ခုတ်သမား၏ စာကလေးနားသို့ ရောက်လာ သည့်အခါတွင် ဒင်နီဆော့ဗ်သည် မြင်းကိုရပ်၍ တောထဲ သို့ လှမ်းကြည့်နေသည်။ တောအုပ်သစ်ပင်များကြားမှ ( ခါးပြတ်အင်္ကျီတို၊ လျှော်ဖိနပ်နှင့် ကာဇန်ဦးထုပ်တို့ကို ဝတ်ဆင်ထားသည့် ခြေတံလက်တံရှည်ရှည် လူတစ် ယောက်သည် ပေါ့ပါးသွက်လက်သော ခြေလှမ်းကျဲကြီး များဖြင့် ၎င်းတို့ထံ ပြေးလာလျက် ရှိ၏။ ထိုသူသည် ပခုံးပေါ်တွင် တစ်လုံးထိုး သေနတ်တစ်လက်ကို လွယ် ထားပြီး ပုဆိန်တစ်လက်ကို ခါးကြားတွင် ထိုး

ထား၏။ ဒင်နိုဆော့ဗ်ကို မြင်သည့်အခါ၌ ထိုလူသည် တစ်စုံတစ်ခု ကို ချုံထဲသို့ လှမ်းပစ်လိုက်ပြီး ရေစိုလျက် ရှိသောကြောင့် ချော်ကျိကျိဖြစ်နေသည့် ဦးထုပ်ကို အနားမှ ကိုင်ချွတ် လိုက်၍ ဒင်နီဆော့ဗ်အပါးသို့ လျှောက်လာခဲ့၏။ ထိုသူ မှာ ရှာဗေတီ ဖြစ်လေသည်။ အရေရဲ့ တွကာ ကျောက် ပေါက်မာသကက်သက်ရှိသော ၎င်း၏မျက်နှာနှင့် ကျဉ်း မြောင်းသေးငယ်သော မျက်လုံးများသည် မိမိကိုယ်မိမိ ကျေနပ်နှစ်သိမ့်ခြင်းဖြင့် ရွှင်မြူးစွာ တောက်လျက်ရှိကြ ၏။ ရှာဗေတီသည် ရယ်ချင်စိတ်ကို မျိုသိပ်ထားရဟန် ဖြင့် ခေါင်းကို မတ်မတ်ထားကာ ဒင်နီဆော့ဗ်ကို ကြည့် လျက် ရှိလေသည်။

"ဟော့ကောင်၊ ဘယ်ပျောက်နေတာလဲ ပြောစမ်း" ဒင်နီဆော့ဗ်က မေး လိုက်၏။

"ဘယ်ပျောက်ရမလဲ ဗိုလ်မှူးရ၊ ပြင်သစ်ကောင်တွေ ကို သွားဖမ်းတာပေါ့" ရှာဗေတီက ခပ်အောအောရှိသော် လည်း ချိုသာနူးညံ့သည့်အသံဖြင့် ရဲဝံ့လျင်မြန်စွာ ပြော လိုက်၏။

"ဘာဖြစ်လို့ နေ့ခင်းကြောင်တောင်ကြီး ဝင်သွား ရသလဲကွ၊ ခွေးသား။ ပြီးတော့ တစ်ကောင်မှလဲ ဖမ်း မလာခဲ့ဘူး"

"တစ်ကောင်ဖမ်းခဲ့တယ် ခင်ဗျ" ရှာဗေတီက ပြောသည်။

"ဘယ်မှာလဲ"

"အရုဏ်တက်လောက်မှာ တစ်ကောင်ရလာတယ် ခင်ဗျ" ရှာဗေတီက ခြေဖျားတွင် ကော့လန်လျက်ရှိသည့် ၎င်း၏ ခြေထောက်ပြားပြားကြီးကို လျှော် ဖိနပ်ထဲတွင် အပြားလိုက် နင်းချရင်း ပြောလိုက်၏။ "အဲဒီကောင်ကို သိပ်မကြိုက်

သေးတာနဲ့ နောက်ထပ်ကောင်းကောင်းတစ် ကောင် သွားဖမ်းမယ်ဆိုပြီး ဝင်သွား တာခင်ဗျ”

“ကြည့်စမ်း၊ “လျှာတစ်ချောင်း” ရရက်သားနဲ့ လွတ်ပစ်ခဲ့တယ်။ ကျုပ်ထင်တဲ့ အတိုင်း ဖြစ်တာပဲ” ဒင်နီ ဆော့ဗ်က ကော့ဆက်ဗိုလ်ကြီးဘက်သို့ လှည့်၍ ပြော လိုက် သည်။ “ရတာကိုပဲ ယူခဲ့ပါလားကွ”

“ဒီကောင်က မစွံဘူး ဗိုလ်မှူး”ရှာဗေတီက စိတ်တို လာဟန်ဖြင့် ကြား ဖြတ်၍ ပြောလိုက်သည်။ “ဒီကောင် ဖမ်းလာလို့ကတော့ အလကားပဲ။ ဗိုလ်မှူး လိုချင်တဲ့ အကောင်မျိုး ကျွန်တော် မသိဘဲ နေပါ့မလား ဗိုလ်မှူး”

“ခွေးသား၊ ဘာမှ စဉ်းစားဉာဏ် မရှိဘူး။ ဒါနဲ့ ဘာဖြစ်သလဲ”

“နောက်တစ်ကောင်ဖမ်းဖို့ ဝင်သွားတယ် ခင်ဗျ” ရှာဗေတီက ဆက်ပြော လိုက်၏။ “တောထဲရောက်တော့ ဒီလိုမှောက်ပြီး ဝပ်နေလိုက်တယ်ခင်ဗျ” (ရှာဗေ တီက ဗြုန်းခနဲ ဝမ်းလျားမှောက်ပြလိုက်သည်။) “အဲဒီတုန်း ပြင်သစ်ကောင်တစ် ကောင် ချောင်ထဲက ပေါ်လာတော့ ကျွန်တော်လဲ ပခုံးကို ဒီလိုလှမ်းဆွဲလိုက်တာ ပဲ” (ရှာဗေ တီသည် လျင်မြန်ပေါ့ပါးစွာ ခုန်ထလိုက်သည်။) ““ဟေ့ ကောင် ဗိုလ်မှူး ဆီ လိုက်ခဲ့”လို့ ကျွန်တော်ကခေါ်တော့ ငနဲ ငယ်သံပါအောင် အော်တော့တာပဲ။ အော်တော့ ပြင်သစ် ကောင် လေးကောင်ပါလာတယ် ခင်ဗျ။ သူတို့ကလေး တွေ ကိုင်ပြီး ကျွန်တော့်ဆီ ပြေးလာကြတယ်ခင်ဗျ။ ဒါနဲ့ ကျွန်တော်လဲ ခါးကြားက ပုဆိန်ကို ထုတ်ပြီး “ဘာဝင်ရှုပ် . တာလဲကွ၊ ဘုရား တရား အောက်မေ့ပေတော့ ဆို ပြီး” ဒီလို”

ရှာဗေတီသည် ပါးစပ်ကအော်ကာ ရင်ကိုကော့ ၍ မျက်နှာထားကြီးဖြင့် ပုဆိန်ခုတ်ဟန်လုပ်ပြသည်။

“ဩော်၊ ဒါကြောင့်ကိုး ရွှံ့ဗွက်တွေထဲဖြတ်ပြီး မင်းပြေးလာခဲ့ရတာ။ မသိရင် ခက်မယ်” ကော့ဆက်ဗိုလ် ကြီးက ၎င်း၏ တောက်ပပြောင်လက်သော မျက်လုံး များ ကို မှေး၍ ပြောလိုက်သည်။

ပီတာမှာ ရယ်ချင်လှပေပြီ။ သို့ရာတွင် ၎င်းတို့ ( အားလုံး ရယ်ချင်စိတ်ကို မျိုသိပ်ထားရကြောင်း ပီတာ သတိပြုလိုက်မိ၏။ ထို့နောက် ပီတာသည် ရှာဗေတီ ကို တစ်လှည့်၊ ကော့ဆက်ဗိုလ်ကြီးကို တစ်လှည့်၊ ဒင်နီဆော့ဗ် ကို တစ်လှည့် ကြည့်နေသည်။

“ပတ်တီးရိုက်မယ်တော့ မကြံနဲ့နော်” ဒင်နီဆော့ဗ် က စိတ်တိုလာကာ ချောင်းတဟွတ်ဟွတ်ဆိုးရင်း ပြော လိုက်၏။ “ပထမတစ်ကောင်ကို ဘာဖြစ်လို့ ဖမ်းမလာ ခဲ့သလဲ”

ရှာဗေတီသည် လက်တစ်ဖက်ဖြင့် နောက်ကျော ကို တဖြင်းဖြင်းမြည် အောင် ကုတ်လိုက်ပြီး အခြားလက် တစ်ဖက်ဖြင့် ခေါင်းကို ကုတ်လျက်ရှိ၏။ ထို နောက် ( ပါးစို့ကြီးတွေ ချွန်တက်လာအောင် ရုတ်တရက် မချိုမချဉ် ပြုံးလိုက်သည် တွင် ရှေ့သွားတစ်ချောင်း ကျိုးလျက် ရှိ သည့် ၎င်း၏သွားများသည် အထင်းသား ပေါ်လာကြ၏။ (ရှာဗေတီဆိုသော အမည်မှာ သွားကျိုးသည်ကို အစွဲပြု၍ ခေါ်ခြင်း ဖြစ်ပါသည်။) ဒင်နီဆော့ဗ်သည် ရှာဗေတီ၏ ပေါကြောင်ကြောင် အမူအရာကို မြင်သည်၌ ပြုံးလိုက် ၏။ ပီတာသည် မအောင့်နိုင်တော့ဘဲ ခွက်ထိုးခွက်လန် ( ရယ်လျက်ရှိလေသည်။ ရှာဗေတီကလည်း ဘုမသိ ဘမသိ လိုက်ရယ်လေသည်။

”ဟာ ဒီကောင်က ဘာမှမစွဲဘူး ဗိုလ်မှူးရ” ရှာဗေတီက ပြောလိုက်၏။ “ဝတ်ထားတဲ့ အဝတ်အစား ကလဲ မက်စရာမရှိဘူး။ ဒီလိုကောင်မျိုး ဘာလို့ဖမ်းမ

လဲ ဗိုလ်မှူးရ။ ပြီးတော့ ရိုင်းလဲရိုင်းတယ် ခင်ဗျ။ “ငါက ဗိုလ်ချုပ်ရဲ့ သားကွ။ မ လိုက်နိုင်ဘူး”တဲ့”

“ဟာ ခွေးသား၊ သေတော့မှာပဲ”ဒင်နီဆော့ဗ်က ပြောလိုက်လေသည်။ “နေ စမ်းပါဦး၊ ငါမေးချင်လို့ပါ”

“ကျွန်တော် မေးခဲ့ပြီးပြီ ဗိုလ်မှူး။ သူ ဘာမှ ကောင်းကောင်းမသိဘူးတဲ့။ သူ တို့လူတွေ အများကြီးပဲတဲ့။ ဒါပေမဲ့ အကုန်လုံး ချာတူးလန်တွေချည်းပဲတဲ့။ စစ်သား ဆိုတဲ့ နာမည်လောက်ပဲ ကျန်တော့တယ်တဲ့။ တစ်ချက် လောက် ဝေါက် လိုက်ရင် အကုန်ဖမ်းလို့ရတယ်တဲ့” ရှာ ဗေတီသည် စကားကို အဆုံးသတ်ကာ ဒင် နီဆော့ဗ်၏ မျက်လုံးများထဲသို့ စိန်းစိန်းကြီး စိုက်ကြည့်နေသည်။

“အေး၊ မင်းကိုတော့ ကြာပွတ်နဲ့ အချက်တစ်ရာ လောက် စပ်စပ်ကလေး ရိုက်ပေးဦးမယ်။ ဒါမှ နောင်ရူး သလို ပေါသလို မလုပ်ရဲမှာ” ဒင်နီဆော့ဗ်က ခပ် ထန်ထန် ပြောလိုက်၏။

“ဗိုလ်မှူး ကျွန်တော့်ကို ဘာဖြစ်လို့ ဒီလောက်စိတ် တိုနေရတာလဲခင်ဗျာ” ရှာဗေတီက ပြန်ပြောလိုက်သည်။ “ဗိုလ်မှူးကြည့်ခိုင်းတဲ့ ပြင်သစ်တွေကိုလည်း ကျွန်တော် ကြည့်ခဲ့သားပဲ။ ဗိုလ်မှူး မကျေနပ်သေးရင် ဒီနေ့တစ်ညနေ စောင့်ပါ။ ဗိုလ်မှူးလိုချင်တဲ့အကောင်မျိုး တစ်ကောင် ကျွန်တော် ဖမ်းခဲ့ပါမယ်။ သုံးကောင် လိုချင်သပဆိုရင်လဲ သုံးကောင်ရမယ်ခင်ဗျ”

“တိတ်ကွာ၊ သွားမယ်”ဟု ဆိုကာ ဒင်နီဆော့ဗ် သည် သစ်ခုတ်သမားတဲ ကလေးဆီသို့ တစ်လမ်းလုံး မျက်မှောင်ကြီးကုတ်၍ စီးလာသည်။ စကားလည်း တစ် လုံးမျှ မပြောတော့ချေ။

ရှာဖေတီသည် နောက်ကလိုက်လာ၏။ ကော့ ဆက်မြင်းတပ်သားများသည် ရှာဖေတီနှင့်ရောကာ ရှာဖေ တီအား ဝိုင်းရယ်လျက် ရှိခြင်းကို ပီတာ ကြားရသည်။ ရှာဖေတီ ချုံထဲသို့ လွင့်ပစ်ခဲ့သော ဖိနပ်ရှည်တစ်ရန် အကြောင်းကိုလည်း ပြောဆို ရယ်မောလျက် ရှိကြလေ သည်။ ( ပီတာသည် ခပ်စောစောက ရှာဖေတီကို ကြည့်၍ လည်းကောင်း၊ ၎င်း၏စကားများကို နားထောင်၍ လည်း ကောင်း ရယ်ချင်ပက်ကျိ ဖြစ်ခဲ့သော်လည်း ဤရှာဖေတီ ဆိုသော လယ်သမားသည် လူတစ်ယောက်ကို သတ်ခဲ့လေ ပြီဟု တွေးမိသောအခါ၌ကား စိတ်မကောင်းဖြစ်လျက် ရှိလေသည်။ ပီတာသည် သုံ့ပန်းဘင်တီးသမားကလေးကို လှမ်းကြည့်ရင်းလည်း နှလုံးတွင် နာကျင်သောဝေဒနာကို ခံစားလျက်ရှိလေသည်။ သို့ရာတွင် ပီတာ စိတ်မကောင်း ဖြစ်ခြင်းမှာ ခဏသာ ကြာပါသည်။ မိမိသည် ခေါင်း မော့ရင်ကော့ရမည် မဟုတ်ပါလော။ နက်ဖြန် တိုက်ပွဲ နှင့် စပ်လျဉ်း၍ ကော့ဆက်ဗိုလ်ကြီးထံ အလွန်အရေးကြီး သည့် ဟန်အမူအရာမျိုးဖြင့် မေးမြန်း စုံစမ်းရဦးမည် မဟုတ်ပါလော။ မိမိရောက်လျက်ရှိသော ပြောက်ကျား တပ်ဖွဲ့ဝင်တစ်ဦး၏ ဂုဏ်သိက္ခာနှင့်အညီ ထိုက်တန်စွာ နေထိုင်ပြုမူရဦးမည် မဟုတ်ပါလား။

၎င်းတို့သည် ဒိုလိုကော့ဗ်ထံ လွှတ်ထားသော တပ်ဗိုလ်နှင့် လမ်းတွင် ဆုံမိကြရာ ဒိုလိုကော့ဗ် ယနေ့ ညနေတွင် လာမည်ဖြစ်ကြောင်း၊ အစစအရာရာ အဆင်ပြေကြောင်းဖြင့် သိရလေသည်။

ဒင်နီဆော့ဗ်သည် ရွှင်လန်းလာကာ ပီတာကို လှမ်းခေါ်လိုက်၏။

“ကဲ မင်းအကြောင်းကော ပြောစမ်းပါဦး”

## အခန်း ၇

မော်စကိုမြို့မှ ထွက်ခွာပြီးနောက် ပီတာသည် ၎င်း၏ မိသားစုများနှင့် ခွဲကာ မိမိတပ်ရင်းသို့ ပြန်လာခဲ့လေ သည်။ များမကြာမီမှာပင် ပြောက်ကျားတပ်ဖွဲ့ ကြီး တစ်ဖွဲ့ ကို ကွပ်ကဲလျက်ရှိသည့် ဗိုလ်ချုပ်တစ်ဦးထံတွင် တပ်လုလင် အဖြစ် အမှုထမ်းရလေသည်။ ပီတာသည် ပြန်တမ်းဝင် ရာထူးကို ရ၍ အထူးသဖြင့် တိုက်ပွဲဝင် တပ်ကြီးတစ်တပ် တွင် ဝင်ရောက်ကာ ဗျာဇမာတွင် တိုက်ပွဲတိုက်ပြီးခဲ့ သည့် အချိန်မှစ၍ မိမိသည် လူလားမြောက်သော လူကြီးတစ် ယောက် ဖြစ်ခဲ့လေ ပြီဟု တွေးကာ ပီတိဖြစ်လျက် ရှိလေ သည်။ တကယ်စွန့်စားရသော အခွင့်အရေး များကို လက် မလွှတ်ဘဲ ဝင်နွှဲရန်လည်း စိတ်အားထက်သန်လျက် ရှိ လေသည်။ ပီ တာသည် တပ်ထဲတွင် မြင်ခဲ့၊ ကြုံတွေ့ခဲ့ သော အခြင်းအရာများကို နှစ်ခြိုက် သဘောကျလျက် ရှိ သော်လည်း စွန့်စွန့်စားစား လုပ်ရမည့် နေရာမျိုးသို့ မရောက် ရလေခြင်း၊ နင်လား ငါလား လုပ်ရမည့်ကိစ္စ မျိုးသည် မိမိမရှိသော နေရာတွင်မှ ဖြစ်တတ်လေခြင်း ဟု တစ်ခါတစ်ရံ စဉ်းစားမိသေးသည်။ ထို့ကြောင့် ထို ကိစ္စမျိုးရှိ သည့် နေရာသို့ ပီတာ အမြဲတမ်း ခြေကုန်သုတ် လာသည်သာ ဖြစ်လေသည်။

အောက်တိုဘာလ ၂၂ ရက်နေ့၌ ပီတာ၏ ဗိုလ်ချုပ် သည် ဒင်နီဆော့ဗ်၏ တပ်ဖွဲ့သို့ လူတစ်ယောက် လွှတ်လို ကြောင်း ပြောပြ၏။ ဤတွင် ပီတာက မိမိ အား လွှတ် ရန် သနားစဖွယ် တောင်းပန်ခြင်းပြုသည်၌ ဗိုလ်ချုပ်သည် မငြင်းသာ တော့ဘဲ ပီတာကို လွှတ်လိုက်လေသည်။ သို့ ရာတွင် ပီတာကို လွှတ်ခါနီး၌ ၎င်း၏ ဗိုလ်ချုပ်သည် ဗျာဇမာတိုက်ပွဲတုန်းက ပီတာ မိုက်မိုက်ကန်းကန်းလုပ်ခဲ့ ခြင်းကို သတိရလာ၏။ ထိုစဉ်က ပီတာသည် မိမိစေလွှတ် သော နေရာသို့ လမ်းအတိုင်း သွားရမည့်အစား ပြင်သစ်တို့ အပစ်အခတ် ထူထပ်ရာ ရှေ့တန်းစစ်ကြောင်းထဲသို့ ဖြတ်" ဝင်ကာ သေနတ်နှစ်ချက် ဖောက်ခဲ့သည်။ ထို့ကြောင့် ယခု တစ်ကြိမ်၌ ပီ တာ၏ ဗိုလ်ချုပ်သည် ဒင်နီဆော့ဗ်တို့ တပ်ဖွဲ့ ၏ မည်သည့်တိုက်ပွဲတွင်မျှ ပါဝင် ခြင်းမပြုရန် အတိအလင်း မှာလိုက်သည်။ ဒင်နီဆော့ဗ်က မိမိအား နေနိုင်ဦးမည်

လောဟု မေးသည့်အခါ၌ ပီတာ မျက်နှာရဲ သွားပြီး ဝေခွဲမရဖြစ်နေခြင်းမှာ ထို အကြောင်းကြောင့်ပင် ဖြစ်လေသည်။ မိမိသည် ပေးလိုက်သော ညွှန်ကြားချက် အတိုင်း လိုက်နာမည်၊ ကိစ္စပြီးက ချက်ချင်းပြန်မည်ဟု တောစပ်သို့ မရောက်မီ အထိ ပီတာ တွေးလာခဲ့သည်။ သို့ရာတွင် ပြင်သစ်များကို လည်းကောင်း၊ ရှာဗေတီ ကို လည်းကောင်း မြင်ပြီး၍ ယနေ့ညတွင် တိုက်ပွဲတစ်ပွဲ မုချဖြစ်မည်ဟု သိရ သောအခါ၌ကား မိမိတို့၏ ထင်မြင် ချက်ကို လျင်မြန်စွာ ပြောင်းလဲလေ့ရှိသော လူငယ်တို့ ထုံးစံအတိုင်း မိမိ တစ်ခါက လေးစားခဲ့သော မိမိ၏ ဗိုလ်ချုပ်သည် အ နှ့ ်ပ်စုတ် ကုပ်စုတ် ဂျာမန်တစ်ဦးသာ ဖြစ်သည်။ ဒင်နီဆော့ဖ်လို၊ ကော့ဆက် မြင်းတပ်ဗိုလ်ကြီး လိုဗေစကီလို၊ လယ်သမား ရှာဗေတီလို လူမျိုးသာလျှင် သူရဲကောင်းဖြစ်သည်။ ဤလို အကျပ်အတည်းကာလ တွင် ပြန်သွားရသည်မှာ ရှက်ဖွယ်ကောင်းလှသည်ဟု  ပီတာ ထင်ခဲ့လေပြီ။

သစ်ခုတ်သမား၏ တဲကလေးသို့ ၎င်းတို့သုံး ယောက်စီးလာကြသောအခါ တွင် မှောင်ရီပျိုးလျက် ရှိလေ ပြီ။ ကုန်းနှီးတင်ထားသော မြင်းများကို ဆည်းဆာ ရောင် ထဲတွင် ဝိုးတိုးဝါးတားမြင်ရ၏။ တောအုပ်ထဲတွင် အကာ အကွယ် ကောင်းကောင်းလုပ်ကာ ပြင်သစ်တို့ မီးခိုးမမြင် လောက်သော တောအုပ် အလယ်၌ မီးဖိုလျက်ရှိကြသော ကော့ဆက်များနှင့် မြင်းတပ်သားများကိုလည်း မှုန်ဝါးဝါး မြင်ရလေသည်။ သစ်ခုတ်သမား၏ တဲကြားလမ်းမြှောင် ကလေး၌ အင်္ကျီ လက်ပင့်တင်ထားသော ကော့ဆက်တပ် သားတစ်ဦးသည် သိုးသားများကို ခုတ်ထစ်လျက် ရှိ၏။ တဲတွင်း၌ကား ဒင်နီဆော့ဗ်၏ တပ်ဖွဲ့မှ တပ်ဗိုလ်သုံးဦး သည် တံခါးရွက်တစ်ချပ်ကို စားပွဲခင်းလျက် ရှိကြ၏။ ပီတာသည် ၎င်း၏ အဝတ်စို များကို မီးကင်ရန် ချွတ်ပေး လိုက်ပြီးနောက် ညစာစားရန် စားပွဲခင်းလျက်ရှိသော တပ်ဗိုလ်များကို ဝင်ရောက်ကူညီလျက် ရှိလေသည်။

စားပွဲမှာ ဆယ်မိနစ်အတွင်း အဆင်သင့် ဖြစ်သွား သဖြင့် အဝတ်တစ်ထည်ကို အပေါ်တွင် ခင်းလိုက်ကြ၏။

စားပွဲပေါ်၌ ဗော့ဒကာအရက်တစ်ပုလင်း၊ ရမ်အရက်ဘူး တစ်ဘူး၊ ပေါင်မုန့်ဖြူ၊ သိုးသားကင်နှင့် ဆားတို့ အဆင် သင့်ဖြစ်လေပြီ။

စားပွဲတွင် တပ်ဗိုလ်များနှင့် အတူထိုင်ကာ လက် ကြားမှဆီတွေ ယိုစီးသည်အထိ သိုးသားကင်ကို ဖုံးလျက် ရှိသော ပီတာမှာ မြင်မြင်သမျှလူကို ချစ်ခင်ကာ မိမိကို လည်း မြင်မြင်သမျှ လူအားလုံးက ချစ်ခင်ကြလိမ့်မည် ဟု ယုံကြည်လေ့ရှိသော ကလေးငယ်တို့၏ ဝမ်းသာကြည် နူးခြင်းဖြင့် ကြည်နူးလျက် ရှိလေသည်။

“ဘယ်လိုလဲ ဗိုလ်မှူး” ပီတာက ဒင်နီဆော့ဗ်ကို လှမ်းပြော၏။ “ကျွန်တော်တစ်ရက်လောက်နေလို့ ကိစ္စ မရှိတန်ကောင်းပါဘူးနော်” ပီတာသည် အဖြေကို မစောင့် တော့ဘဲ ကိုယ့်ဘာသာကိုယ် ဖြေလိုက်သည်။ “ကျွန်တော့် ကို ကြည့်ဖို့တွင် ခိုင်းလိုက်၊ အေးလေ ခုမြင်ရပြီပဲ၊ ကျွန် တော့်ကို တိုက်ပွဲသာဝင်ခွင့်၊ အရေးကြီးတဲ့နေရာ။ ကျွန် တော် ဆုလာဘ်တွေ ဘာတွေ မလိုချင်ပါဘူးဗျာ။ တိုက်ပွဲ တိုက်ချင်တာ”

ပီတာသည် သွားကိုစေ့ကာ ပတ်ဝန်းကျင်ကို ကြည့်လိုက်ပြီးနောက် ခေါင်းကိုခါလျက် လက်များကို ဝှေ့ယမ်းလျက် ရှိသည်။

“အရေးကြီးတဲ့ နေရာ” ဒင်နီဆော့ဗ်က ပြုံး၍ ဆိုလိုက်သည်။

“တကယ်ပါ ကျွန်တော့်ကို တပ်စုတစ်စု ပေးပြီးသာ လွှတ်လိုက်စမ်းပါ။ ကျွန်တော် ထိန်းနိုင်ပါတယ်” ပီတာက ဆက်ပြောလျက် ရှိသည်။ “ဘာလဲ ဗိုလ်လေး ဘာလိုချင် လို့လဲ။ ဩော်... လား”

ပီတာက သိုးသားကို ဖဲ့၍ မရဘဲဖြစ်နေသော တပ်ဗိုလ်တစ်ဦးဘက်သို့ လှည့် ပြောလိုက်၏။

ပီတာသည် ၎င်း၏မောင်းချခားကို ထုတ်ပေး လိုက်၏။ တပ်ဗိုလ်မှာ မောင်းချခားကို သဘောကျနေ သည်။

"ဗိုလ်လေး ယူထားလိုက်လေ။ ကျွန်တော့်မှာ ဒီလိုခားတွေ အများကြီး ရှိပါ တယ်" ပီတာက မျက်နှာ ရဲလျက် ပြောလိုက်၏။ ထိုနောက်

"အလို ကြည့်စမ်း၊ ကျွန်တော် မေ့နေတယ်။ ကျွန်တော့်မှာ စပျစ်သီးခြောက် တွေ ပါတယ်ဗျ။ တော်တော် ကောင်းတယ်။ အစေ့မပါဘူး။ ကျွန်တော်တို့ တပ်ထဲ က ဈေးသည်တွေမှာ ပစ္စည်းကောင်းကောင်းတွေ ပါတယ်။ ကျွန်တော့်မှာ ဆယ် ပေါင်တောင် ပါလာတယ်။ ကျွန်တော် က အချို သိပ်ကြိုက်တာဗျ။ စားကြမလား"

ပီတာသည် တဲဘေး ၎င်း၏ ကော့ဆက်မြင်းတပ် သားထံ ပြေးထွက်သွား ကာ စပျစ်သီးခြောက်ငါးပေါင်ခန့် ပါသော အိတ်တချို့ကို ဆွဲလာ၏။

"စားကြလေဗျာ၊ လုပ်ပါ။ စားပါ"ဟု ပြော၍ ကော့ဆက်မြင်းတပ်ဗိုလ်ကြီး ဘက်သို့ လှည့်လိုက်ပြန်ကာ

"ဗိုလ်ကြီး ကော်ဖီကရားတစ်လုံးလောက် ယူ မလား။ တပ်တွင်းဈေးဆိုင်က ကရားကောင်းကောင်း တစ်လုံး ဝယ်လာတယ်ဗျ။ ကျွန်တော်တို့ တပ်တွင်းဆိုင် က ပစ္စည်းသိပ်စုံတာပဲ။ ဆိုင်ရှင်က ရိုးတယ်။ အေးလေ ရိုးသားဖို့ အရေးကြီးတာပဲ။ ဗိုလ်ကြီးလိုချင်ရင် ကျွန်တော် ပို့လိုက်မယ်လေ။ ပြီးတော့ မီးခတ်ကျောက်တွေလဲ သေသေ ချာချာ စစ်ကြည့်ကြဦးဗျ။ တစ်ခါတလေ ကုန်ချင် ကုန် နေတတ်တယ်။ မီးမပွင့်ဘဲလဲ ဖြစ်ချင်ဖြစ်နေတတ်တယ်။ ကျွန်တော့်မှာ မီးခတ်ကျောက်တွေလဲ ပါလာတယ်" ပီတာသည် အိတ်တစ်လုံးကို ပြ၏။ "မီးခတ်ကျောက် အလုံးတစ်ရာ

လောက်တော့ ရှိမယ်ထင်တယ်။ ဈေးပေါ တာနဲ့ ဝယ်လာတာ။ ဗိုလ်လေးတို့ သေနတ်တွေအတွက် လိုရင် ကြိုက်သလောက် ယူထားလိုက်ကြလေ”

ပီတာသည် မိမိ စကားဖောင်လျက် ရှိခြင်းကို သတိပြုမိဟန်ဖြင့် မျက်နှာနီသွားကာ စကားကို ရပ်လိုက် သည်။

မည်သည့်နေရာတွင် မိမိ ပြောမှား၊ ဆိုမှား ရှိ လေသနည်းဟုလည်း တွေးလျက် ရှိသည်။ ယနေ့အဖြစ် အပျက်များကို စဉ်းစားရင်း သံ့ပန်း ဘင်တီးသမားလေး ကို အမှတ်ရလာသည်။ “အင်း ငါတို့မှာတော့ ဒီမှာ ဇိမ် ကျလို့။ ချာတိတ်ကလေးတော့ ဘယ်လိုများ နေပါလိမ့်။ ချာတိတ်ကလေးကို ဘယ်နားမှာထားသလဲ မသိဘူး။ အစာမှ ကျွေးကြရဲ့လား။ ချာတိတ်ကလေးကို စိတ်ဆင်း ရဲအောင်များ ညှဉ်းထားကြသလား”ဟု တွေးလျက် ရှိလေ သည်။ သို့ရာတွင် မီးခတ်ကျောက် ကိစ္စကို တော်တော်များ များ ပြောခဲ့ပြီဖြစ်သည့်အတွက် နောက်ထပ် စကားမပြောရဲတော့ချေ။

“ငါက မေးရင် ချာတိတ်ချင်းမို့လို့ ချာတိတ် အကြောင်းမေးတယ် ထင်ကြတော့မှာပဲ။ အေးလေ၊ ငါ ချာတိတ်ဟုတ်မဟုတ် မနက်ဖြန်ကျရင် သိကြမှာပေါ့။ မေးရင် ကောင်းမှ ကောင်းပါ့မလား”ပီတာသည် မိမိအား တပ်ဗိုလ်များက ခပ်မှောင်မှောင် သဘောထားလေ သလောဟု စိုးရိမ်တကြီးဖြင့် ၎င်းတို့ကို လှမ်းကြည့်နေ သည်။

“သံ့ပန်း ချာတိတ်ကလေးကို တစ်ခုခု ခေါ်ကျွေး လိုက်ရင် မကောင်းဘူးလား။ ဆာများ ဆာနေမလား”

ပီတာက ပြောလိုက်၏။

“အေး ဟုတ်သားပဲ၊ ကောင်လေး သနားပါတယ် ကွာ” ဒင်နီဆော့ဗ်က ပြော လိုက်သည်။ ဒင်နီဆော့ဗ်မှာ ဤသို့ ပြောခြင်းအတွက် ရှက်စရာကောင်းသည်ဟု ထင် ပုံမရချေ။

“ကောင်လေးကို ခေါ်လိုက်ကြပါကွာ။ နာမည်က ဗင်းဆင့်တဲ့။ စားပါစေ”

“ကျွန်တော် သွားခေါ်လိုက်မယ်လေ”

”အေး သွားခေါ်ချေ။ ကောင်လေး သနားပါတယ်”

ဒင်နီဆော့ဗ်က ထပ်ပြောလိုက်ပြန်သည်။

ဒင်နီဆော့ဗ် ပြောသည့်အချိန်၌ ပီတာမှာ တံခါးဝ တွင် ရပ်လျက်ရှိ၏။ ပီ တာသည် တပ်ဗိုလ်များအကြားမှ ဖြတ်ကာ ဒင်နီဆော့ဗ်အနီးသို့ ရောက်လာ၍

”ဗိုလ်မှူးကို တစ်ရှုပ်လောက် နမ်းချင်တယ်ဗျာ။ ဒါမှ တို့ဗိုလ်မှူးကွ”

ပီတာသည် ရွတ်ခနဲ နမ်းကာ အပြင်သို့ ပြေးထွက် သွားလေသည်။

“ဗင်းဆင့်ရေ၊ ဟေ့ ဗင်းဆင့်” ပီတာက တံခါးဝ မှ လှမ်း၍ ခေါ်နေသည်။

“ဘာကိစ္စပါလဲ ခင်ဗျာ” မှောင်ထဲမှ အသံတစ်သံ ကမေး၏။

ပီတာက ပြင်သစ်သုံ့ပန်းလေးကို ခေါ်ခဲ့ရန် ပြော လိုက်သည်။

“သြော် ဗင်းဆင့်နီလား” ကော့ဆက်တပ်သား တစ်ဦးက မေး၏။

သုံ့ပန်း၏အမည်မှာ ဗင်းဆင့် ဖြစ်သော်လည်း ကော့ဆက်များက “ဗင်းဆင့် နီ” (အသား) ဟု အမည်ပေး ကာ လယ်သမားများနှင့် စစ်သားများကမူ “ဗီဆီညာ” (နွေဦး) ဟု အမည်ပေးထားကြလေပြီ။ ထိုအမည်နှစ်ခု အနက် “ဗီဆီညာ´ဟူသော အမည်မှာ သုံ့ပန်းလေးနှင့် အလိုက်ဆုံး ဖြစ်လေသည်။

“ကောင်လေး ချမ်းလို့ မီးလှုံနေတယ် ဗိုလ်လေး။ ဟေး ဗီဆီညာ၊ ဗီဆီညာ ရေ”ဟု ရယ်မောသံများနှင့်အတူ အော်သံများကို အမှောင်ထဲမှ ကြားရသည်။

“ချာတိတ်ကလေးက မဆိုးဘူး ဗိုလ်လေးရ” ပီတာ့အနီးတွင် ရပ်နေသည့် မြင်းတပ်သားတစ်ယောက်က ပြောလိုက်သည်။ “စောစောက ကျွန်တော်တို့ ကျွေး ထား တယ်။ ငနဲလေး ဆာနေပြီထင်တယ်”

ဖိနပ်မပါဘဲ ရွှံ့ဗွက်ထဲတွင် တစွတ်စွတ်ဖြတ် လျှောက်လာသံသည် အမှောင် ထုထဲမှ ထွက်ပေါ်လာ၏။ ခဏကြာလျှင် ဘင်တီးသမားလေးသည် တဲတံခါးဝသို့ ရောက်လာလေသည်။

“ဟေ့ ဗင်းဆင့်လား။ တစ်ခုခု စားမလား။ မကြောက်ပါနဲ့ကွ။ မင်းကို ဘာမှမ လုပ်ပါဘူး” ပီတာက ပြင်သစ်လို ပြောလိုက်၏။

”လာ လာ”

ပီတာက ရက်ကြောက်ချစ်ခင်စွာဖြင့် ပြောကာ ပြင်သစ်သံ့ပန်းကလေး၏ လက်ကို ဆွဲခေါ်လိုက်သည်။

“ကျေးဇူးတင်ပါတယ် ခင်ဗျာ” ပြင်သစ်သံ့ပန်း ကလေးက တုန်ယင်လျက်ရှိ သော ကလေးသံကလေးဖြင့် ပြောကာ ရွှံ့ ပေနေသော ခြေထောက်ကို တံခါးဝ တွင် သုတ်နေသည်။

ပီတာသည် ပြင်သစ်သံ့ပန်းကလေးကို ပြောစရာ တွေ အများကြီးရှိ သော်လည်း မပြောရဲဘဲ ဖြစ်နေသည်။ ပီတာသည် တံခါးဝတွင် ဝေခွဲမရဟန်ဖြင့် ရပ်လျက်ရှိ ၏။ ထို့နောက် အမှောင်ထဲတွင် ပြင်သစ်သံ့ပန်း လူရွယ် ၏ လက်ကို ဆွဲကာ တင်းကျပ်စွာ ဆုပ်ထားလိုက်သည်။

"လာ လာ" ပီတာက ခပ်တိုးတိုးလေး ပြောၡ၏။ "ငါ သူ့အတွက် ဘာများလုပ်ပေးရပါ့မလဲ"ဟု တွေးရင်း ပီတာသည် တံခါးကိုဖွင့်ကာ သံ့ပန်းလူငယ်ကို အလျင်ဝင်စေသည်။

တဲထဲသို့ ရောက်သည့်အခါတွင် ပီတာသည် သို့ ပန်းအား ဂရုစိုက်လွန်းခြင်းမှာ မိမိသိက္ခာကို ထိခိုက်သည် ဟု တွေးကာ ခပ်ဝေးဝေးတွင် ထိုင်လျက် ရှိလေသည်။ သို့ရာတွင် အိတ်ထဲမှ ပိုက်ဆံကို စမ်းကာ သံ့ပန်းလူငယ် အား ပိုက်ဆံပေးလျှင် ရယ်ဖွယ်ဖြစ်နေမည်လောဟုလည်း တွေးလျက် ရှိလေသည်။

# အခန်း ၈

ဒိုလိုကော့ဗ် ရောက်သည့်အခါ၌ ပီတာမှာ သံ့ပန်းလူငယ် ကို စိတ်မဝင်စားလှတော့ဘဲ ဒိုလိုကော့ဗ်ကို စိတ်ဝင်စား လျက် ရှိလေပြီ။ ဒင်နီဆော့ဗ်က သံ့ပန်းလူငယ်အား အရက်တိုက်၍ သိုးသားကင်ကျွေး၏။ ထို့နောက် အခြား သံ့ပန်းများနှင့် မထည့်ဘဲ မိမိတို့နှင့်အတူ လိုက်ပါစေရန် ရုရှားဝတ်ရုံအကျႌတစ်ထည်ကိုလည်း ဝတ်စေသည်။ ပီတာ သည် ဒိုလိုကော့ဗ် သတ္တိကောင်းပုံ၊ ပြင်သစ်တို့အပေါ်တွင် ရက်စက်ပုံတို့ကို တပ်ထဲ၌ မကြာခဏကြားဖူးခဲ့ရာ တဲထဲ သို့ ဒိုလိုကော့ဗ် ရောက်လာသည့်အချိန်မှ စ၍ ပီတာ၏ မျက်လုံးများသည် ၎င်းထံမှ မခွာတော့ချေ။ သို့ရာတွင် ဤသို့သော အသိုက်အဝန်းနှင့် ထိုက်တန်လေအောင်ဟု ယူဆကာ ခေါင်းကို ပို၍ မော့ထားလိုက်ပြီး ရင်ကို ပို၍ ကော့ထားလိုက်သည်။

ဒိုလိုကော့ဗ်၏ ရိုးသော ဝတ်စားဆင်ယင်ပုံကို ကြည့်၍လည်း ပီတာသည် အံ့သြလျက် ရှိလေသည်။

ဒင်နီဆော့ဗ်မှာ ကော့ဆက် မြင်းတပ်သားဝတ်ရုံ ကို ဝတ်၍ မုတ်ဆိတ်ထား ကာ ၎င်း၏ ရင်ဘတ်ပေါ်တွင် အဆောင်အဖြစ် "သိဒ္ဓိမြောက် ကိုယ်တော် နီကို လတ်" ၏ ဆင်းတုတော်ကို ဆွဲထားလေသည်။ ၎င်း၏ ပြောပုံ ဆိုပုံ၊ လုပ်ပုံကိုင်ပုံ အားလုံးသည် အများနှင့်မတူ တစ်မူ ထူးလျက် ရှိ၏။ သို့ရာတွင် မော်စကို၌ ပါသျှန် ဝတ်ရုံ ဖင်နေခဲ့သည့် ဒိုလိုကော့ဗ်မှာကား ကိုယ်ရံတော် တပ်သားတစ်ဦး၏ အဝတ်အစားကို အပို အလိုမရှိ ဝတ်ဆင်ထားလေသည်။ ဒိုလိုကော့ဗ်သည် မုတ်ဆိတ်ကို စင်ကြယ်စွာ ရိတ်ထားကာ ကြယ်စေ့ပေါက် တွင် စိန့်ဂျော့ဆုတံဆိပ် တော်ကို ဆွဲချိတ်ထားသည့် ကိုယ် ရံတော်တပ် ဝတ်ရုံအင်္ကျီကို ဝတ်ဆင်ထား လျက် မြင်း တပ်ဗိုလ်မှာ မြင်းစာရှာစဉ် ဆောင်းလေ့ရှိသည့် ဦးထုပ် တစ်လုံးကို တည့်တည့်ဆောင်းထားသည်။ ဒိုလိုကော့ဗ် သည် ရေစိုနေသော ၎င်း၏ သက္ကလတ်ဝတ်ရုံကို အခန်း ထောင့်တစ်နေရာတွင် ချွတ်ခဲ့ပြီးနောက် မည်သူ့ကိုမျှ နှုတ်ဆက်ခြင်းမပြုဘဲ ဒင်နီဆော့ဗ်ထံ တည့်တည့်ကြီး လျှောက်သွားကာ ကိစ္စများ ကို ဆွေးနွေးလျက် ရှိလေသည်။ အခြားသော ပြောက်ကျားတပ်စုများကလည်း ပြင်သစ် ထောက်ပို့တပ်ကို ဝင်စီးရန် ကြံလျက်ရှိကြောင်း၊ မိမိထံ ပီတာကို လွှတ်၍ ဂျာမန်ဗိုလ်ချုပ်က အခေါ်လွှတ်သေး ကြောင်း၊ မိမိက ဗိုလ်ချုပ်နှစ်ဦးအား မည်သို့မည်ပုံ အကြောင်း ပြန်လိုက်ကြောင်း စသည်တို့ကို ဒင်နီဆော့ဗ် က ပြောပြ လျက် ရှိလေသည်။ ထိုနောက် ပြင်သစ်တပ်၏ အခြေအနေကို မိမိသိသမျှ ပြောပြ ခြင်း ပြုလေသည်။

"ဒီလိုဆိုရင် ဟုတ်ပြီလေ။ ဒါပေမဲ့ အဲဒီတပ်ဟာ ဘာတပ်လဲ ဆိုတာရယ်၊ လူ ဘယ်လောက်ရှိသလဲဆိုတာ ရယ်ကိုတော့ သိဖို့လိုလိမ့်မယ်ဗျ" ဒီလိုဗ်က ပြော လိုက်သည်။ "ဒီလိုသိဖို့အတွက် အဲဒီကို သွားကြည့်ဖို့ လိုလိမ့်မယ်။ သူတို့မှာ လူ ဘယ်လောက်ရှိတယ်ဆိုတာကို သေသေချာချာမသိဘဲ အရမ်းသွားလုပ်လို့တော့ မ ဖြစ်ဘူး ဗျ။ ကျွန်တော်တို့က တိတိကျကျလုပ်မှ သဘောကျတာ။

”ကဲ သွေးသောက်များ ခင်ဗျား၊ သွေးသောက်တို့အထဲက ကျွန်တော်နဲ့ ပြင်သစ်တပ်စခန်းထဲ ဝင်လိုက်ကြည့်ချင်တဲ့ လူများ ရှိပါသလား။ ကျွန်တော့်မှာ ပြင်သစ်စစ်ဝတ်စုံ တစ်စုံ အပို ပါပါတယ်” ။

“ကျွန် ကျွန်တော်လိုက်မယ်” ပီတာက အော် လိုက်၏။

“သွားကြည့်စရာ မလိုပါဘူးဗျ” ဒင်နီဆော့ဗ်က ဒိုလိုကော့ဗ်ကို လှမ်းပြောလိုက်သည်။ “ပြီးတော့ အဲဒီ ဗိုလ်လေးကိုလဲ ဘယ်နည်းနဲ့မှ ကျွန်တော် လိုက်ခွင့်မပြု နိုင်ဘူး ခင်ဗျ”

“ကျွန်တော် လိုက်ချင်တယ် ဗိုလ်မှူး” ပီတာက အော်လိုက်သည်။

“ဘာဖြစ်လို့ မလိုက်ရမှာလဲ”

”အဓိပ္ပာယ်မရှိလို့ပေါ့ကွ”

“ဟာ မဖြစ်ဘူးဗိုလ်မှူး။ ဒီတစ်ခါတော့ ကျွန် တော်လိုက်မှာပဲ။ ဗိုလ်မှူး ကျွန်တော့်ကို ခေါ်မယ် မဟုတ် လား”ဟု ဒိုလိုကော့ဗ်ကို လှည့်မေးလိုက်သည်။

“အို ဘာဖြစ်လို့ မခေါ်ရမှာလဲကွ” ဒိုလိုကော့ဗ်က ပြင်သစ်သုံ့ပန်းလူငယ်၏ မျက်နှာကို ကြည့်၍ အမှတ် မထင် ဖြေလိုက်၏။ “ငါ့လူ၊ ဒီချာတိတ် ခင်ဗျား ဖမ်းထားတာ တော်တော်ကြာပလား”ဟု တစ်ဖန် ဒင်နီဆော့ဗ် ဘက်သို့ လှည့်မေးလိုက်၏။

“ဒီနေ့မနက်ပဲ မိလာတာဗျ။ ဒီကောင် ဘာမှလဲ ( မသိပါဘူး။ ခု ကျူပ်နဲ့အတူ ခေါ်ထားတာလေ”

“ဒါဖြင့် ဒိပြင် သုံ့ပန်းတွေကိုကော ဘယ်မှာ ထားသလဲ” ဒိုလိုကော့ဗ်က မေးလိုက်သည်။

"ဘယ်မှာ ထားရမလဲဗျ၊ သူတို့ကို ဆိုင်ရာပို့ပြီး လက်မှတ် ယူထားတာပေါ့" ဒင်နီဆော့ဗ်က မျက်နှာ နီရဲလျက် ပြောလိုက်၏။ "ဒီမှာ ကျုပ်တစ်သက်မှာ သူ တစ်ပါးအသက်တစ်ချောင်းကို မသတ်ခဲ့သေးဘူးဆိုတာ ကိုတော့ ရဲရဲပြောလိုက် တယ် ခင်ဗျ။ သုံ့ပန်း သုံးဆယ် လောက်ကို အစောင့်အရှောက်နဲ့ ဆိုင်ရာ ပို့လိုက်ရ တာ ဘာခက်သလဲဗျာ။ သုံးရာပို့ရတော့ကော ဘာခက်လို့လဲ။

သုံ့ပန်းကို သတ်ရတယ်ဆိုတာ စစ်သားဂုဏ်သိက္ခာကျ လှတယ်။ တည့် တည့်ပြောရင် စစ်သားဂုဏ်ပဲ့လှတယ်"

"ဒီစကားမျိုးက ဟောဒီမြို့စား တပ်ဗိုလ်လေးလို ဆယ့်ခြောက်နှစ်သား ကလေးက ပြောရင်တော့ အရေး မကြီးဘူးခင်ဗျာ" ဒိုလိုကော့ဗ်က အေးစက် လှောင်ပြောင် သည့်ဟန်ဖြင့် ပြောလိုက်သည်။ "ခင်ဗျားလို စစ်ဗိုလ် ရင့်မကြီး ကတော့ ဒါမျိုး ပြောဖို့မကောင်းတော့ပါဘူး"

"အို ကျွန်တော်က ဘာပြောသေးလို့လဲ။ ကျွန် တော် လိုက်မယ်လို့ ပြောထား သားပဲ" ပီယာက ခပ်ရှက် ရှက်ဖြင့် ပြောလိုက်သည်။

"ဒါပေမဲ့ ခင်ဗျားတို့လို ကျုပ်တို့လိုလူမျိုးကတော့ ဒီလိုဟာ မျိုးကို မပြော သင့်တော့ဘူးဗျ" ဒိုလိုကော့ဗ်သည် ဒင်နီဆော့ဗ် မခံချင်သည့်အရာကို ပြောရသ ဖြင့် အရသာရှိ ဟန် ဆက်ပြောနေပြန်သည်။ ပြီးမှ ခေါင်းကို ယမ်းလိုက် ရင်း

"ကဲ ဒီချာတိတ်ကို ခင်ဗျား ဘာဖြစ်လို့ ခေါ်ထား တာလဲ။ ဆိုစမ်းပါဦး။ ဘာ လဲ ကောင်လေးကို သနားလို့ ဆိုပါတော့။ ဟုတ်စ။ ခင်ဗျားကို ဆိုင်ရာကပေးတဲ့ ပြေ စာကကော။ ကျုပ်တို့ မသိဘူးတဲ့လား။ ခင်ဗျား သုံ့ပန်း တစ်ရာပို့လိုက်ပေမယ့် သုံးဆယ်ပဲ ဆိုင်ရာကို ရောက် တယ် မဟုတ်လား။ ကျန်တဲ့ သုံ့ပန်းတွေက လမ်းမှာ တွင် ငတ်သေတဲ့လူသေ၊ အသတ်ခံရတဲ့လူ အသတ်ခံရ၊ ကဲ ဒီတော့ ခင်ဗျား ပို့ တော့ကော ဘာထူးသေးသလဲ"

ကော့ဆက်ဗိုလ်ကြီးက မျက်လုံးများကို မှေးကာ ခေါင်းတညိတ်ညိတ် လုပ်နေသည်။

"အို ဘယ်လောက်ပဲ ရောက်ရောက်၊ ဒါက အရေးမကြီးပါဘူးဗျ။ တော်ပြီဗျာ။ ခင်ဗျားနဲ့ ဒီကိစ္စကို မဆွေးနွေးချင်တော့ဘူး။ ကျွန်တော်ကတော့ လူသတ် မိပါကလား ဆိုတဲ့ နောင်တကြီး မရချင်ဘူး။ သူတို့ဘာသာ လမ်းမှာ သေချင်သေ၊ မသေချင်နေ။ ကျွန်တော့် ပယောဂ ကြောင့်တော့ မသေစေချင်ဘူး" ဒိုလိုကော့ဗ်က တဟားဟား ရယ်နေသည်။

"နေစမ်းပါဦးဗျ၊ ကျုပ်တို့ကိုကော သူတို့က မဖမ်း ဘဲ နေမှာတဲ့လား။ မဖမ်းနဲ့လို့ သူတို့ကို သူတို့ဗိုလ်တွေက တားမယ်လို့ ထင်သလား။ ဝေးသေးတယ်ဗျာ။ ခုနေ ကျွန်တော့်ကို မကြည့်စမ်းပါလား။ ဒီကောင်တွေ ကျွန်တော့် ကို သစ်ပင်ကြိုးနဲ့ ချည်ထားမှာပေါ့။ ခင်ဗျားကိုရော သဘောထားကြီးလှချည့်ဆိုပြီး ချမ်းသာပေးမယ် ထင် သလား။ ဟင်း ဝေးသေးတယ်" ။ ဒိုလိုကော့ဗ်က ခေတ္တရပ်လိုက်၏။

"က် ကြာတယ်ဗျာ၊ ကျုပ်တို့ အလုပ်ကြမယ်။ ကော့ဆက်
တစ်ယောက်ယောက်ကို ကျုပ် စစ်လွယ်အိတ် အယူခိုင်းလိုက်စမ်းပါ။ အဲဒီထဲမှ ပြင်သစ်စစ်ဝတ်စုံနှစ်စုံ ရှိတယ်။ ဘယ့်နှယ်လဲဟေ့၊ ငါနဲ့လိုက်မယ် မဟုတ်လား"

ဒိုလိုကော့ဗ်က ပီတာကို မေးလိုက်၏။

"အို လိုက်မှာပေါ့ ဗိုလ်မှူးရ။ ဘယ်နေရစ်မလဲ" ပီတာက မျက်ရည်တွေ ဝဲကျလာသည်အထိ စိတ်လှုပ် ရှားလျက် ရှိရာက ဒင်နီဆော့ဗ်ကို လှမ်းကြည့်နေသည်။

ဒိုလိုကော့ဗ်နှင့် ဒင်နီဆော့ဗ်တို့နှစ်ယောက် သံ့ပန်း များကို မည်သို့ ပြုလုပ်ရမည်ဟု ငြင်းခုံနေကြစဉ်၌ ပီတာ သည် အနေရခက်ကာ ဂနာမငြိမ် ဖြစ်လျက် ရှိလေသည်။ သို့ရာတွင် ၎င်းတို့ ပြောဆိုလျက် ရှိသည့် စကားများကို လည်း

နားလည်သလို နားမလည်သလို ဖြစ်လျက်ရှိ၏။ “အို ငါ့ထက် အသက်လဲကြီး၊ သူရသတ္တိလဲ ပြောင်မြောက် တဲ့ လူကြီးတွေက ပြောရင် ပြောသင့်လို့၊ လုပ်အပ်လို့၊ မှန်လို့ ဖြစ်မှာပေါ့”ဟု တွေးလျက် ရှိသည်။ “နေပါဦး၊ ဒင်နီဆော့ဗ် အမိန့်ပေးတာ ကိုကော ငါက ဘာလို့ နာခံရ မှာလဲ။ ငါ သူ့ကို နားထောင်ပြီး သူ့အမိန့်ကို လိုက်နာ တယ်လို့ ဘာဖြစ်လို့ အထင်ခံရမှာလဲ။ ဟုတ်တယ်။ ငါ ဒိုလိုကော့ဗ်နဲ့ ပြင်သစ် ကင်းစခန်းထဲ လိုက်သွားမယ်။ သူ တောင် သွားရဲသေးရင် ငါကော ဘာလို့ မသွားရဲ ရမှာလဲ”

ဒင်နီဆော့ဗ်က မလိုက်ရန် အမျိုးမျိုး ပြောဆိုသော် လည်း ပီတာကမူ မိမိ သည်လည်း အလုပ်တစ်ခုကို လုပ် လျှင် တိကျသေချာမှ လုပ်တတ်ကြောင်း၊ ဖြစ် သလို ( မလုပ်တတ်ကြောင်း၊ မိမိ၏ အသက်အန္တရာယ်ကိုလည်း မည်သည့်အခါမျှ မစဉ်းစားခဲ့ကြောင်းဖြင့် ပြောဆိုငြင်း ဆန်လျက် ရှိလေသည်။

“တကယ်လို့ ဒီကောင်တွေ အင်အားဘယ်လောက် ရှိမှန်းမသိဘဲ အရမ်းဝင် တိုက်ရင် ကျွန်တော်တို့ဘက်က လူတစ်ရာကျမယ်ဆိုလဲ ကျသွားနိုင်တာပဲ။ ဒါကို ဗိုလ် မှူးလဲ သိသားပဲ။ ခုလို သွားစုံစမ်းတော့ သေချာတာပေါ့။

ဆုံးရှုံးရင်လဲ ကျွန်တော်တို့နှစ်ယောက်တည်းပဲ။ ဒါတွင် မကဘူး။ ကျွန်တော် ကလဲ သိပ်သွားချင်နေတယ်။ သွားလဲ သွားမှာပဲ။ ဒီတော့ တားမနေနဲ့ ဗိုလ်မှူး။ တားရင် ပိုဆိုး လိမ့်မယ်” ။

## အခန်း ၉

လိုကော့ဗ်နှင့် ပီတာတို့နှစ်ဦးသည် ပြင်သစ်ဝတ်စုံအကျႌ ကြီးများနှင့် ပြင် သစ်တပ်သားများ ဆောင်းလေ့ရှိသော သံပရာခွံဦးထုပ်များကို ဝတ်ဆင်ပြီးနောက်

တောအုပ် အလယ်ရှိ ကွက်လပ်ကလေးတစ်ခုဆီသို့ မြင်းကိုယ်စီဖြင့် လာခဲ့ကြလေသည်။ ထိုကွက်လပ်ကလေးမှာ ခပ်စောစော က ဒင်နီဆောဗ်တို့ ပြင်သစ်တပ်စခန်းကို ထောက်လှမ်း ကြည့်ရှုခဲ့သည့်နေရာ ဖြစ်လေသည်။ ၎င်းတို့နှစ်ဦးသည် ထိုကွက်လပ်ကလေးမှတစ်ဖန် မည်းမှောင်သော အမှောင် ထုကြီးထဲရှိ တောစပ်သို့ ထွက်လာခဲ့ကြပြီးနောက် လျှို ကလေးတစ်ခုထဲသို့ ဆင်းခဲ့ကြ၏။ လျှိုထဲသို့ ရောက်လျှင် ဒိုလိုကော့ဗ်သည် မိမိတို့နှင့်ပါလာသော ကော့ဆက် မြင်းတပ်သားတစ်ယောက်ကို ထိုနေရာတွင် အစောင့်ခိုင်း ခဲ့၍ တာလမ်းအတိုင်း တံတားဆီသို့ မြင်းကို အသားကျ စီး၍လာခဲ့သည်။ နှလုံးပါးစပ်ထဲသို့ တက်ဘို့လုမတတ် တုန်လှုပ်ချောက်ချားလျက်ရှိသော ပီတာသည် ဒိုလိုကော့ဗ် နှင့် ဘေးချင်းယှဉ်၍ စီးလာခဲ့သည်။

"မိရင် အရှင်တော့ အမိမခံဘူး ဗိုလ်မှူး။ ပြောင်း တိုသေနတ်တစ်လက်တော့ ယူလာခဲ့တယ်" ပီတာက ခပ်တိုးတိုး ပြောလိုက်၏။

"ဟု ရှုရှားလို မပြောနဲ့လေကွာ" ဒိုလိုကော့ဗ် က ခပ်တိုးတိုးဖြင့်ပင် လှမ်းပြောလိုက်သည်။ ထိုအခိုက် မှောင်ထဲမှ ကျောက်ခနဲ သေနတ်မောင်းတင်သံနှင့် အတူ "ဟော့ ဘယ်သူလဲ၊ ရပ်"ဟူသော အော်သံကို ကြားလိုက် ရ၏။

ပီတာ၏ သွေးများသည် မျက်နှာသို့ တက်လာ ၏။ ပီတာသည် ပြောင်းတိုသေနတ်ကို စမ်းလိုက်မိသည်။

"အမှတ် ၆-တပ်ရင်း လုံ့ကိုင်တပ်သားတွေ" ဒိုလိုကော့ဗ်က မြင်းကို ခပ်မှန်မှန် စီးမြဲစီးရင်း လိုက် သည်။

ပြင်သစ်အစောင့်၏ မည်းမည်းသဏ္ဌာန်သည် တံတားပေါ်တွင် ရပ်လျက်ရှိ၏။

"စကားဝှက်" ဒိုလိုကော့ဗ်သည် မြင်းဇက်ကို သတ်၍ တစ်လှမ်း ချင်းရှေ့သို့ စီးသွား၏။

"ဟေ့ ရဲဘော်၊ ဗိုလ်မှူးကြီး ဂျရတ် ဒီနားမှာ ရှိ သလားကွ" ဒိုလိုကော့ဗ်က မေး၏။

"စကားဝှက်" ပြင်သစ်အစောင့်က မည်သို့မျှမဖြေ ဘဲ ရှေ့မှပိတ်ရပ်၍ စကားဝှက် တောင်းနေသည်။

"ဟေ့ ရဲဘော်၊ တာဝန်ကျတပ်ဗိုလ် လိုက်စစ် တာကို အစောင့်က စကားဝှက် တောင်းနေရသေးသလား ကွ။ ဗိုလ်မှူးကြီး ရှိသလားလို့ မေးတာ မကြားဘူးလား" ဒိုလိုကော့ဗ်သည် ဒေါပွလာကာ အစောင့်ဆီသို့ မြင်းကို တည့်တည့်ကြီး စီးလာခဲ့ သည်။

ပြင်သစ်အစောင့်သည် ဘေးသို့ ရှောင်လိုက်၏။ ဒိုလိုကော့ဗ်သည် အစောင့်၏ အဖြေကိုပင် မစောင့်တော့ဘဲ တံတားတစ်ဖက်ရှိ ကုန်းမြင့်ကလေးဆီ သို့ တစ်လှမ်းချင်း စီးသွားလေသည်။

ရှေ့တွင် လမ်းကို ဖြတ်ကူးလျက်ရှိသော မည်း မည်းသဏ္ဌာန်တစ်ခုကို မြင် လိုက်သည်တွင် ဒိုလိုကော့ဗ် က ထိုသဏ္ဌာန်ကို ရပ်တန့်စေပြန်ကာ တပ်မှူးနှင့် တကွ တပ်သားများ ဤစခန်းတွင် ရှိ မရှိ မေးမြန်းခြင်းပြုပြန် သည်။ ကျောပိုးအိတ်လွယ်ထားသည့် ထိုသဏ္ဌာန်သည် ရပ်၍ ဒိုလိုကော့ဗ်၏ မြင်းနားသို့ ကပ်လာကာ မြင်းကို ( လက်ဖြင့် ပုတ်လိုက်ပြီး တပ်မှူးနှင့် တပ်ဗိုလ်များမှာ ကုန်း မြင့်ထိပ် လက်ယာဘက်ဘေးက ယာတောတစ်တော ရှိ အိမ်တစ်လုံးတွင် ရှိ ကြောင်းဖြင့် စိတ်ရှည်လက်ရှည် ပြောပြ၏။ ၎င်းအိမ်မှာ မြေပိုင်ရှင်တစ်ဦး၏ အိမ် ဖြစ် ကြောင်းကိုလည်း ပြောပြလိုက်သေးသည်။

သို့ဖြင့် ဒိုလိုကော့ဗ်တို့နှစ်ဦးသည် တာလမ်းအတိုင်း စီး၍ လာခဲ့ကြရာ လမ်းဘေးတစ်ဖက်တစ်ချက် စခန်းမီး ပုံများဆီမှ ပြင်သစ်စကားသံများကို ကြားရ၏။ ဒိုလိုကော့ဗ် ' သည် မြေပိုင်ရှင်၏ အိမ်ဝင်းထဲသို့ ဝင်လာခဲ့လေသည်။ အိမ်ဝင်းထဲသို့ ရောက်သော် မြင်းပေါ်မှဆင်း၍ တဟုန်း ဟုန်းတောက်လျက်ရှိသော မီးပုံကြီးတစ်ခုအနီးသို့ လျှောက် သွားလေသည်။ မီးပုံအနီးတွင်မူ ပြင်သစ်တပ်ဗိုလ်များ သည် ဆူညံစွာ စကားပြောလျက် ရှိကြ၏။ မီးဖိုဘေးရှိ ( ဒယ်အိုး ခပ်သေးသေးတစ်လုံးထဲ၌ ရေပွက်ပွက်ဆူလျက် ရှိ၏။ ရှေ့တည့်တည့်တွင် ကြက်လျှာတပ်ထားသော ဦးထုပ်ကို ဆောင်းထားသည့် တပ်သားတစ်ဦးသည် အနီး  တွင် ထိုင်လျက် သေနတ်ယမ်းထိုးတံဖြင့် ဒယ်အိုးမွှေ လျက် ရှိခြင်းကို မီးပုံမှ မီးရောင်တွင် မြင်ရ၏။

“ဟား ငနဲကြီးအကြောင်းတော့ ပြောမနေနဲ့။ ဘယ်လိုလူစားကြီးမှန်း မသိဘူး” မီးဖိုဘက် မှောင်ရိပ် ခပ်ကျကျတွင် ထိုင်နေသည့် တပ်ဗိုလ်တစ်ဦးက ပြော၏။

“ငနဲကြီးတပ်က တပ်သားတွေတော့ ခံပေရော့ ထဲကပဲဗျို့။ ဟား ဟား” အခြားတပ်ဗိုလ်တစ်ယောက် က ရယ်လျက် ရှိသည်။

မြင်းကိုယ်စီဆွဲ၍ မီးပုံဆီသို့ လျှောက်လာသည့် ဒိုလိုကော့ဗ်နှင့် ပီတာတို့၏ ခြေသံများကို ကြားရသည့် အခါတွင် ပြင်သစ်တပ်ဗိုလ် နှစ်ယောက်စလုံး စကားပြတ်သွားကြကာ အမှောင်ထဲသို့ စိုက်ကြည့်လိုက်ကြ သည်။

“ကောင်းသောညပါ သွေးသောက်တို့” ဒိုလိုကော့ဗ် က ခပ်ကျယ်ကျယ် ပြောလိုက်၏။

မီးဖိုတစ်ဖက် မှောင်ရိပ်ထဲတွင် ထိုင်နေသည့် တပ်ဗိုလ်များကြား၌ လှုပ်လှုပ်ရှားရှား ဖြစ်သွားလေသည်။ အရပ်ရှည်ရှည်၊ လည်ပင်းရှည်ရှည်နှင့် တပ်ဗိုလ်တစ်ယောက် သည် မီးပုံကိုကွေ့၍ ဒိုလိုကော့ဗ်ထံ လျှောက်လာလေ သည်။

"ါ ဗိုလ်ကြီး ကလီမင်လား။ ခင်ဗျား တော်တော် ဆိုးတဲ့"

တပ်ဗိုလ်သည် လူမှားမှန်းသိသည်နှင့် စကားကို ဆုံးအောင် မပြောတော့ဘဲ မျက်နှာထား ခပ်တင်းတင်းဖြင့် ဒိုလိုကော့ဗ်ကို ပြန်၍ နှုတ်ဆက်ပြီးနောက် ကိစ္စကို မေး မြန်းစုံစမ်း၏။

ဒိုလိုကော့ဗ်က မိမိနှင့် တပ်ဗိုလ်ကလေးတစ်ဦး မှာ ရှေ့က ချီတက်သွားသော တပ်ရင်းမှ ကွဲကျန်ရစ်ခဲ့ ကြောင်း၊ ထို့ကြောင့် တပ်ရင်းကို လိုက်ရှာနေကြောင်း ဖြင့် ပြောဆိုကာ အမှတ် ၆ တပ်ရင်း မည်သည့် နေရာ သို့ ရောက်နေကြောင်းကို သိကြသလောဟု အားလုံးကို လှမ်း၍ မေးလိုက်၏။ ၎င်းတို့အနက် တစ်ယောက်မျှ အမှတ် ၆ တပ်ရင်းအကြောင်းကို မသိကြချေ။ ပီတာ၏ စိတ်တွင်မူ တပ်ဗိုလ်များသည် မိမိတို့နှစ်ဦးကို မသင်္ကာ သောအကြည့်၊ ရန်မူလိုသော အကြည့်မျိုးဖြင့် ကြည့်နေ ကြသည်ဟု ထင်မှတ်လိုက်မိသည်။ သို့ဖြင့် စက္ကန့်အတန် - ကြာမျှ တိတ်ဆိတ်နေကြလေသည်။

"ငါ့ ရဲဘော်ကြီး ညနေစာလေး တစ်လုတ် လောက်ကျွေးရမလားလို့ လိုက်ရှာတယ်ဆိုရင်တော့ နောက် ကျသွားပြီဗျ" မီးပုံနောက်မှ ရယ်ချင်ပက်ကျိဖြစ်နေသည့် ( အသံတစ်သံ ပေါ်လာ၏။

ဒိုလိုကော့ဗ်က မိမိတို့မှာ ဆာလောင်ခြင်း မရှိ ကြောင်း၊ ယနေ့ညပင် အမှတ် ၆ တပ်ရင်းကို ရှေ့တွင် လိုက်ရှာရဦးမည် ဖြစ်ကြောင်းဖြင့် ပြောပြ၏။

ဒိုလိုကော့ဗ်သည် ဒယ်အိုးမှွေနေသည့် တပ်သားထံ မြင်းဇက်ကို ခပ်တည် တည် လှမ်းပေးလိုက်ပြီးနောက် လည်ပင်းရှည်ရှည် တပ်ဗိုလ်၏အနီး မီးပုံဘေးတွင် ခပ် တည်တည်ဆောင့်ကြောင့် ဝင်ထိုင်လိုက်သည်။ တပ်ဗိုလ် ကား မျက်လုံးများကို ဒိုလိုကော့ဗ်၏ ကိုယ်ပေါ်မှ မခွာ တမ်း စိုက်ကြည့်လျက်ရှိကာ မည်သည့်တပ်ရင်း

ကနည်း ဟု ထပ်၍ မေးမြန်းလျက် ရှိလေသည်။ ဒိုလိုကော့ဗ်က ထိုတပ်ဗိုလ်၏ မေးခွန်းကို မကြားဟန်ဖြင့် ဖြေဆိုခြင်း မပြုဘဲ အကျႌအိတ်ထဲမှ ပြင်သစ်ဆေးတံ တိုတစ်ချောင်း ကို ထုတ်၍ မီးညှိဖွာလိုက်ပြီးနောက် ရှေ့ခရီးတွင် မိုင် မည်မျှ လောက်အထိ ကော့ဆက်မြင်းတပ်တို့ရန်မှ စိတ် ချရသနည်းဟု မေးမြန်းနေ ပြန်သည်။

"ဟာ ခွေးသား ခားပြတွေကတော့ နေရာတိုင်း ပဲဗျ။ စိတ်ချရတယ်လို့ မရှိ ဘူး" မီးပုံနောက်မှ တပ်ဗိုလ် တစ်ယောက်က ပြောလိုက်သည်။

ဒိုလိုကော့ဗ်က မိမိတို့ကဲ့သို့သော တပ်နှင့်ကွဲလာ သူများအဖို့သာ ကော့ ဆက်မြင်းတပ်သားများ၏ ရန်ကို သတိထားဖို့ လိုကြောင်း ပြောပြကာ

"ဒါပေမဲ့ တပ်ခွဲကြီးတွေကျတော့ ခွေးသားတွေ ဝင်မတိုက်ရဲပါဘူးဗျ"ဟု ရေလာမြောင်းပေး စပေးလိုက် သည်။ သို့ရာတွင် မည်သူကမျှ မဖြေကြချေ။

ပီတာကား မီးဖိုအနီးတွင် ရပ်၍ စကားများကို နားထောင်ရင်း မြန်မြန်ပြန် ထွက်ရန်ကိုသာ ဆုတောင်း လျက် ရှိလေပြီ။

သို့ရာတွင် ဒိုလိုကော့ဗ်က စကားပြန်ဆက်ကာ ထိုတပ်ရင်းတွင် တပ်သား မည်မျှ ရှိသနည်း၊ ဤတစ်ဝိုက် တွင် တပ်ရင်း မည်မျှ ရှိသနည်း၊ သုံ့ပန်းမည်မျှ ဖမ်းမိ ထားသနည်း စသည်ဖြင့် ပြောင်ပြောင်တင်းတင်းကြီး မေးနေပြန်သည်။ ဤ တပ်ခွဲနှင့်အတူ ရောက်နေသည့် ရုရှားသုံ့ပန်းများနှင့် စပ်လျဉ်း၍ မေးမြန်းရာ၌ ဒိုလို ကော့ဗ်

"ဒီမသာလောင်းတွေကို တပ်နဲ့အတူ ခေါ်လာရ တာ အလုပ်ပိုတာပဲဗျ။ ခွေး သားတွေ ပစ်သတ်ခဲ့ရင် ပြီး တာပဲ"ဟု ဆိုကာ တဟားဟားရယ်လျက်ရှိရာ ပီတာ့ အဖို့ ထိုရယ်သံမှာ များစွာ ထူးဆန်းလျက် ရှိသဖြင့် ပြင်သစ် တို့သည် မိမိတို့

ရုပ်ဖျက်လာခြင်းကို ရိပ်မိချေတော့မည် လောဟု တွေးမိကာ ခြေလှမ်းကို နောက်သို့ပင် တစ်လှမ်း ဆုတ်လိုက်မိသေးသည်။

ဒိုလိုကော့ဗ်၏ ရယ်သံကို မည်သူကမျှ တုံ့ပြန် ခြင်းမပြုကြချေ။ ထိုအခိုက် ပြင်သစ် တပ်ဗိုလ်တစ်ယောက် သည် (၎င်းမှာ ဝတ်ရုံအင်္ကျီကြီးကို ဝတ်၍ အိပ်နေသဖြင့် ဒိုလိုကော့ဗ်တို့ သတိမထားမိကြချေ။) ထလာကာ အခြား တပ်ဗိုလ်တစ်ဦးသို့ တစ်စုံတစ်ရာ တီးတိုးပြောလိုက်သည်။ ဒိုလိုကော့ဗ်သည် ရုတ်ခနဲ ထိုင်ရာမှ ထ၍ မြင်းဇက်အကိုင် ခိုင်းထားသည့် ပြင်သစ်တပ်သားကို ခေါ်လိုက်သည်။

ပီတာ၏စိတ်၌မူ မိမိတို့မြင်းများကို ပြန်မှဆွဲလာ ပါဦးတော့မည်လောဟု တွေးတော ထိတ်လန့်လျက်ရှိကာ ဒိုလိုကော့ဗ်အနီးသို့ မသိမသာ တိုးသွားမိသည်။

ခဏကြာသော် မြင်းများ ရောက်လာ၏။

“ကဲ ကောင်းသောညပါ သွေးသောက်တို့” ဒိုလို ကော့ဗ်က နှုတ်ဆက်၏။

ပီတာသည် ဒိုလိုကော့ဗ်ကဲ့သို့ နှုတ်ဆက်လိုသော် လည်း ပါးစပ်သည် အာဝေးထည့်ထားခြင်း ခံရဘိသို့ လှုပ်၍ မရတော့ချေ။ တပ်ဗိုလ်များကား အချင်းချင်း ခပ် တိုးတိုး ပြောဆိုလျက် ရှိလေပြီး ဒိုလိုကော့ဗ်မြင်းမှာ လှုပ်လျက် ရှိခြင်းကြောင့် တော်တော်နှင့် တက်၍ မရ ချေ။ ထို့နောက်၌ကား ဒိုလိုကော့ဗ်သည် ဂ္ဂန္ဒြေမပျက် မြင်းကို တစ်လှမ်းချင်း စီး၍ ထွက်သွားလေရာ ပီတာလည်း ဘေးချည်းယှဉ်၍ လိုက်လာခဲ့လေသည်။ ပီယာသည် မိမိ တို့နောက်မှ ပြင်သစ်တို့ လိုက်လာလေသလောဟု လှည့် ကြည့်ချင်လှသော်လည်း မကြည့်ရဲချေ။

တာလမ်းပေါ်သို့ ရောက်သောအခါ၌ ဒိုလိုကော့ဗ် သည် လာလမ်းအတိုင်း ကွင်းပြင်ဘက်သို့ ပြန်မထွက် ဘဲ ရွာထဲက ပြန်ထွက်၏။ တစ်နေရာသို့ အရောက်တွင်  ရပ်တန့်၍ နားစွင့်လိုက်ပြီး -

"ကြားလားဟေ့"ဟု မေးလိုက်သည်။

ထိုအသံများမှာ ရုရှားစကားပြောသံများဖြစ်၍ စခန်းမီးပုံများအနီးတွင် မီးလှုံ လျက်ရှိသော ရုရှားသုံ့ပန်း များကို တလှုပ်လှုပ်ဖြင့် မြင်ရ၏။ တံတားဆီသို့ ဆင်း လာ ကြ၍ ဒိုလိုကော့ဗ်က အစောင့်အနီးမှ ဖြတ်၍ စီးလာသော အခါတွင်မူ အစောင့်သည် တစ်ခွန်းမျှ မေးမြန်းခြင်း မရှိ တော့ဘဲ တံတားပေါ်တွင် ခေါက်တုံ့ခေါက်ပြန် လျှောက် လျက်ရှိ၏။ ထို့နောက် ကော့ဆက်မြင်းတပ်သားကို အစောင့်ထားခဲ့သည့် လျှိုကလေးထဲသို့ ချောမောစွာ ပြန် ရောက်လာခဲ့ကြလေ သည်။

"ကဲ ကိုရင်လေး သွားမယ်ဟေ့။ မနက်ဖြန် ( အရုဏ်တက် သေနတ်တစ် ချက် ဖောက်မယ်လို့ ဗိုလ်မှူး ဒင်နီဆော့ဗ်ကို ပြောလိုက်ပေတော့" ဒိုလိုကော့ဗ်က ထို သို့ ပြော၍ ၎င်း၏ စခန်းဘက်သို့ ပြန်စီးရန် လှည့်လိုက် သည်။ သို့ရာတွင် ပီ တာက လက်ကို လှမ်းဆွဲလိုက်ပြီး

"ဗိုလ်မှူးလိုလူကတော့ ရှာမှ ရှားပါပေတယ်ဗျာ။ ရှာမှ ရှားပါပဲ။ တကယ့် လူစွမ်းကောင်းပါပဲ။ ကျွန်တော် ဗိုလ်မှူးကို ချစ်လိုက်ပါဘိတော့ ဗိုလ်မှူးရယ်"

"ကောင်းပါလေ့ဗျာ၊ ကောင်းပါလေ့" ဒိုလိုကော့ဗ် က ဆို၏။ ပီတာက လက် ကို ဆုပ်မြဲ ဆုပ်ထားရာက ၎င်း၏ ခန္ဓာကိုယ်သည် မိမိဘက်သို့ ယိမ်းလာကာ နမ်း တော့မည်ပြုခြင်းကို ဒိုလိုကော့ဗ် မြင်လိုက်၏။ ဒိုလိုကော့ဗ် သည် အလျင်ဦး အောင် နမ်း၍ ရယ်လိုက်ပြီး မြင်းကို လှည့် ကာ အမှောင်ထဲတွင် ပျောက်ကွယ် သွားလေသတည်း။

# အခန်း ၁၀

သစ်ခုတ်သမား၏ တဲကလေးသို့ ပြန်ရောက်လာသည့် အခါ၌ ဒင်နီဆော့ဗ်ကို တဲဝတွင် အဆင်သင့် တွေ့ရလေ သည်။ ဒင်နီဆော့ဗ်သည် ပီတာကို ထည့်လိုက်မိခြင်း အတွက် ကိုယ့်ဘာသာကို အပြစ်တင်၍မဆုံးဖြစ်ကာ စိုး ရိမ်တကြီးဖြင့် စောင့်လျက် ရှိလေသည်။ ပီတာက ပြင်သစ်စခန်းထဲသို့ ဝင်ရောက်ပုံကို မြိန်ရည်ရှက်ရည် ပြောပြသည်ကို နားထောင်ရင်း "တော်သေးတာပေါ့ ကွာ ကံကောင်းပေလို့သာပေါ့" စသဖြင့် တဖွဖွပြောလျက် ရှိ လေသည်။

"အေး မင်းကသာ ပျော်နေ၊ ငါ့မှာဖြင့် တစ်ည လုံး တစ်ရေးမှ မပျော်ဘူး။ ချောချောမောမော ပြန်ရောက် လာတာ တော်သေးတာပေါ့။ က် က် အိပ်ချည်။ တစ်ရေး လောက်တော့ အိပ်လို့ရပါသေးတယ်"

"ကျွန်တော် မအိပ်တော့ဘူး ဗိုလ်မှူး။ အိပ်လဲ မအိပ်ချင်ဘူး။ အိပ်မိရင်လဲ ကျွန်တော်က ခဏတစ်ဖြုတ် အိပ်လို့ မရဘူး။ အိပ်ပျော်သွားလို့ တိုက်ပွဲမလိုက်ရဘဲ ကျန်ရစ်နေလိမ့်ဦးမယ်။ ပြီးတော့ တိုက်ပွဲတစ်ပွဲ တိုက် တော့မယ်ဆိုရင် ဒီလိုပဲ မအိပ်ဘဲ နေနေကျနေပြီ"

ပီတာသည် တဲထဲတွင် ထိုင်ရင်း မိမိတို့ ပြင်သစ် စခန်းထဲသို့ ဝင်ရောက်ခဲ့ပုံကို တစိမ့်စိမ့် စမြုံ့ပြန်ကာ တစ်ခါတစ်ရံ၌လည်း နံနက်ဖြန် တိုက်ပွဲအကြောင်းကို တွေးလျက် ရှိလေသည်။ ထိုနောက် ဒင်နီကော့ဗ် အိပ် ပျော်သွားပြီကို သိသဖြင့် ထိုင်ရာမှထ၍ တဲပြင်သို့ ထွက် လာခဲ့လေသည်။

အပြင်ဘက်၌ကား ပိန်းပိတ်အောင် မှောင်နေဆဲ ဖြစ်၏။ မိုးတိတ်သွားပြီဖြစ်သော်လည်း မိုးစက်များသည် သစ်ပင်များပေါ်မှ တဖြောက်ဖြောက် ကျဆင်း

လျက် ရှိ သည်။ တဲအနီး၌ ကော့ဆက်မြင်းတပ်သားများ၏ ကနား ဖျင်းတဲကလေး များနှင့် ထိုတဲကုပ်ကလေးများအနီးတွင် လှန်ထားသော မြင်းများ၏ ခပ်မည်းမည်း သဏ္ဍာန်များ ကို မြင်ရ၏။ တဲ၏ နောက်ဖေးဘက်၌မူ ဖမ်းမိလာသော ဝန်တင် လှည်းနှစ်စီး၏ မည်းမည်းသဏ္ဍာန်များနှင့်တကွ ၎င်းတို့ဘေး၌ ဝန်တင်လှည်း ဆွဲခြင်းများကို မြင်ရလေသည်။ လျှိုထဲမှ ငြိမ်းလုဆဲဆဲ စခန်းမီးပုံသည် တ ရဲရဲတောက် လျက်ရှိ၏။ အချို့သော ကော့ဆက်မြင်းတပ်သားများ မှာ မအိပ်ကြ သေးချေ။ သစ်ရွက်ပေါ်မှ မိုးစက်များ၏ တဖြောက်ဖြောက် ကျဆင်းသံများနှင့် အနီးရှိ မြင်းများ၏ တကြွပ်ကြွပ်ဝါးသံများအကြားမှ တီးတိုးပြောဆိုလျက် ရှိဟန် တူသော အသံများကို သဲ့သဲ့ကြားရလေသည်။

ပီတာသည် တဲပြင်သို့ ထွက်လာ၍ အမှောင်ထု ကြီးထဲသို့ လှမ်းကြည့်ကာ ဝန်တင်လှည်းများ ထားရာသို့ လျှောက်လာခဲ့သည်။ တပ်သားအချို့သည် ဝန်တင် လှည်း အောက်တွင် တခေါခေါနှင့် ဟောက်လျက်ရှိလေပြီ။ လှည်း များဘေး၌ကား ကုန်းနှီးတင်လျက်သား မြင်းများသည်  ကုလားပဲဝါးနေကြသည်။ ပီတာသည် ၎င်း၏မြင်းများကို ( အမှောင်ထဲ၌ မှတ်မိလိုက်၏။ ၎င်း၏မြင်းကြီးမှာ ယူကရိန်း နယ်ထွက်ခြင်းမျိုးဖြစ်သော်လည်း ပီတာက ထိုမြင်းကို “ကာရဘတ်” (မြင်းမျိုး ကောင်းများ ထွက်ခြင်းကြောင့် ထင်ရှားသည့် ကော့ကေးဆပ်တောင်ပိုင်းနယ်တစ် နယ်၏ ( အမည်)ဟု အမည်ပေးထားသည်။ ပီတာသည် မြင်းကြီး ဆီသို့ လာခဲ့ကာ မြင်းကြီးနှာခေါင်းပေါက်များကို ထိ၍ နမ်းလိုက်ပြီး

”ဖေ့သားကြီး ကာရဘတ်ရေ။ မနက်ဖြန်တော့ ပွဲကြီးပွဲကောင်းပဲကွ။ တို့များ တစ်ပွဲတော့ နွှဲလိုက်ကြဦး

”

"အလို ဗိုလ်လေး မအိပ်သေးဘဲကိုး" ဝန်တင် လှည်းတစ်စီးအောက်၌ ထိုင်နေသည့် ကော့ဆက်မြင်း တပ်သားတစ်ယောက်က နှုတ်ဆက်လိုက်သည်။ .

"မအိပ်သေးဘူးဗျ။ ဘယ်သူလဲ။ လိုက်ကာရှေ့ လား။ ကျုပ်လဲ ခပ်စောစောကပဲ ပြန်ရောက်တယ်ဗျ။ ပြင်သစ် တပ်စခန်းထဲ ဝင်ကြည့်ခဲ့တယ်လေ"

ပီတာသည် ပြင်သစ်စခန်းကို ဝင်ကြည့်ရပုံ၊ ဝင် ကြည့်ရသည့် ရည်ရွယ်ချက်များနှင့်တကွ ပြီးစလွယ် လုပ်မည့်အစား ယခုလို သက်စွန့်ဆံဖျား သွားရောက်ကြည့် ခြင်းက ပို၍ ကောင်းပုံ စသည်တို့ကို အသေးစိတ် ပြော ပြလေသည်။

"ဒီလိုဆိုလဲ ဗိုလ်လေး တော်တော် ပင်ပန်းလာ ရောပေါ့။ အိပ်ပါတော့လား" ကော့ဆက်မြင်းတပ်သား က ဆိုသည်။

"ဟင့်အင်း ကျုပ် ကျင့်သားရနေပြီ။ ဒါထက် ရဲဘော်၊ ခင်ဗျား ပြောင်းတိုသေနတ်မှာ မီးညှိဖို့ မီးခတ် ကျောက်ရှိသေးရဲ့လား။ ကျုပ်မှာ နည်းနည်းရှိတယ်။ ယူ ဦးမလား။ လိုချင်ယူလေ" ကော့ဆက်မြင်းတပ်သားသည် လှည်းအောက်မှ ခေါင်းပြူထွက်၍ ပီတာ့မျက်နှာကို သေချာ စွာ ကြည့်၏။

"ကျုပ်က အလုပ်လုပ်ရင် တိတိကျကျ လုပ်တတ် တယ်ဗျ။ တချို့လူတွေကျတော့ ဘာမှ ပြင်ဆင်မှုမရှိဘဲ ပြီးစလွယ် လုပ်လိုက်ကြတာပဲ။ ပြီးစလွယ် လုပ်ပြီးတော့ မှ နောင်တရနေလို့ကော ဘာအကျိုးထူးဦးမှာလဲ။ ကျုပ် က ဒါမျိုး မကြိုက်ဘူး"

"ဟုတ်တာပေါ့ ဗိုလ်လေးရ"

"ဪ ရဲဘော်၊ ခင်ဗျား မအိပ်ချင်သေးရင် ကျုပ် ဓားလွယ် သွေးပေးပါလားဗျ။ ကျုပ် ဓားလွယ်က နည်းနည်းတုံး (ပီတာသည် မုသားမပြောလိုသဖြင့် ရပ်

လိုက်၏။ အမှန်၌ကား သူ့ ဓားလွယ်ကို တစ်ခါမျှ မသွေး ရသေးချေ။) ဘယ့်နှယ်လဲ သွေးပေးမလား”

“သွေးတာပေါ့ ဗိုလ်လေး”

ကော့ဆက်မြင်းတပ်သား လိုက်ကာရှေ့သည် အိတ် ထဲသို့ နှိုက်နေ၏။ ခဏ အကြာ၌ကား ဓားသွေးကျောက် နှင့် သံမဏိတို့ ပွတ်တိုက်သံသည် တဂျိဂျိ ထွက်ပေါ်လာ လေသည်။ ပီတာသည် ဝန်တင်လှည်းပေါ်သို့ တက်ထိုင် နေသည်။ ကော့ဆက်မြင်းတပ်သားမှာ လှည်းအောက်တွင် ဓားသွေးလျက် ရှိသည်။

“ငါ့ ရဲဘော်၊ ဒိပြင် ရဲဘော်တွေ အိပ်ပျော်နေ ကြပြီလား” ပီတာက မေး၏။

“တချို့လဲ အိပ်နေပြီ။ တချို့လဲ မအိပ်ကြသေး ဘူး ဗိုလ်လေး”

”“ဟို ချာတိတ်ကော”

“ဘယ်သူလဲ ဗင်းဆင့်နီလား။ ဟာ ဗိုလ်လေး လူတော့ တ်ထဲမှာ အိပ်နေတာ သစ်တုံးပဲ။ ခပ်စောစောက တော့ ငန် တော်တော်ကြောက်နေတယ် ထင်ပါရဲ့။ ခု လို နေရတော့ ဝမ်းသာရှာမှာပေါ့ ဗိုလ်လေးရာ”

ထိုနောက်၌ကား ပီတာသည် အချိန်အတန်ကြာမျှ တိတ်ဆိတ်ကာ အသံများ ကို နားစွင့်နေမိသည်။ အမှောင် ထဲမှ ခြေသံကြားရပြီးနောက် မည်းမည်းသဏ္ဌာန် တစ်ခု ပေါ်လာ၏။

“ငါ့ ရဲဘော် ဘာသွေးနေတာလဲဗျ” ထိုလူက ဝန်တင်လှည်းနားသို့ လျှောက် လာရင်း မေးလိုက်သည်။

“ဗိုလ်လေးရဲ့ ဓားလွယ်ပါဗျာ”

“တယ်လဲ လုပ်လိုက်ပါလား” ပီတာ၏ စိတ်၌ မြင်းတပ်သားဟု ထင်ရသည့် ထိုသဏ္ဍာန်က ပြောလိုက်၏။

“ရဲဘော်၊ ကျုပ် ရေခွက်တစ်ခွက်များ မတွေ့မိ ဘူးလား”

“တွေ့တယ်၊ တွေ့တယ်။ လှည်းဘီးနားမှာ” မြင်းတပ်သားသည် ရေခွက်ကို ကောက်ယူလိုက်

”ဘာလိုလိုနဲ့ အရုဏ်တောင် လာတော့မယ်ဗျ” မြင်းတပ်သားသည် သမ်းဝေ၍ ထွက်သွားလေသည်။

ပီတာသည် ပေတစ်ရာလမ်းမကြီးနှင့် တစ်မိုင်ခန့် ဝေးသည့် တောထဲ၌ ဒင်နီဆော့ဗ်၏ ပြောက်ကျားတပ်စု နှင့်အတူ ရောက်နေခြင်း၊ ပြင်သစ်တို့ထံမှ သိမ်းပိုက်ရမိထား သော ဝန်တင်လှည်းတစ်စီးပေါ်၌ ထိုင်လျက်ရှိခြင်း၊ ၎င်း အနီးတွင် မြင်းများလှန်ထားခြင်း၊ လှည်းနားတွင် ကော့ ဆက်မြင်းတပ်သား လိုက်ကာရှေ့သည် မိမိ၏ဓားကို သွေးလျက်ရှိခြင်း၊ လက်ယာဘက်ရှိ မည်းမည်းသဏ္ဍာန် ကြီးသည် အစောင့်၏ တဲဖြစ်ခြင်း၊ လက်ဝဲဘက် လျှိုရိုးထဲ ရှိ ရဲရဲနီသောအရာမှာ မီးငြိမ်းလုဆဲ စခန်းမီးပုံတစ်ခု ဖြစ် ခြင်း၊ လှည်းနားသို့ လာသူမှာ ရေသောက်ချင်၍ ရေခွက် လိုက်ရှာသော တပ်သားတစ်ယောက် ဖြစ်ခြင်းဆိုသည့် အခြင်းအရာများကို သတိမပြုမိတော့ချေ။ စိတ်ဝင်စား ခြင်းလည်း မရှိတော့။ ပီတာသည် တကယ့် အဖြစ်အပျက် များနှင့် ကင်းဝေးသော အိပ်မက်နိုင်ငံတစ်ခုထဲသို့ ရောက် လျက်ရှိလေပြီ။ လက်ယာဘက်မှ မည်းမည်းသဏ္ဍာန်ကြီး သည် အစောင့်၏ တဲလော၊ သို့မဟုတ် ထိုအရာသည် နက်ရှိုင်းလှသော မြေကြီးထဲသို့ ဆင်းသွားသော လိုဏ်ဂူကြီးတစ်ခုလော၊ လက်ဝဲဘက်လျှိုးရိုးထဲမှ ရဲရဲနီသောအရာ သည် မီးပုံကြီးလော၊ သို့တည်းမဟုတ် ကြီးမားသော သရဲသဘက်ကြီးတစ်ကောင်၏ မျက်လုံးကြီးလော၊ မိမိ သည် ဝန်တင်လှည်းတစ်စီးပေါ်တွင် ထိုင်နေခြင်းလော၊ သို့တည်းမဟုတ် တစ်

ရက်လုံး၊ တစ်လလုံး၊ အသင်္ချေ အနန္တ ကာလပတ်လုံး လိမ့်ကျ၍ မဆုံးနိုင်အောင် မြင့်မား လှသော မျှော်စင်ကြီးတစ်ခုပေါ်တွင် ထိုင်နေခြင်း ဖြစ် သလော၊ လှည်းနား တွင် ထိုင်နေသူသည် ကော့ဆက်မြင်း တပ်သားလိုက်ကာရှေ့ပင်လော၊ သို့တည်းမဟုတ် ကမ္ဘာ ပေါ်တွင် အကြင်နာဆုံး၊ အရဲရင့်ဆုံး၊ အံ့သြစရာအကောင်း ဆုံး၊ အတော်ဆုံး လူတစ်ယောက် ဖြစ်သလော။ မြင်းတပ် သားသည် အကယ်ပင် ရေခွက်လာရှာ၍ အကယ်ပင် လျှိုရိုးထဲသို့ ပြန်ဆင်းသွားချေပြီလော၊ သို့တည်းမဟုတ် အခိုးအငွေ့ဖြစ်၍ ပျောက်ကွယ်သွားချေပြီလား၊ ယခုအချိန်၌ တွေ့မြင်နေရသော အခြင်းအရာ တို့သည် ပီတာကို အံ့သြစေခြင်းငှာ မတတ်နိုင် တော့ပြီ။ ပီတာသည် လိုတရလျက်ရှိသော အိပ်မက်နိုင်ငံသို့ ရောက်  လျက် ရှိလေ ပြီ။

ပီတာသည် ကောင်းကင်ကြီးကို မော့ကြည့်၏။ ကောင်းကင်ကြီးသည်လည်း မြေကြီးကဲ့သို့ပင် အိပ်မက် နိုင်ငံကြီးဖြစ်လျက် ရှိလေပြီ။ ကောင်းကင်ကြီးသည် ရှင်း လျက်ရှိ၏။ တိမ်တိုက်များသည် ကြယ်ပွင့်များကို လှစ်၍ ပြသကဲ့သို့ သစ်ပင် ထိပ်ဖျားများပေါ်တွင် လျင်မြန်စွာ ရွက်တိုက်သွားကြ၏။ တစ်ခါတစ်ရံ၌ တိမ်တိုက် များသည် မိုးကောင်းကင်ကြီးလောဟု မှတ်ထင်ရ၏။ တစ်ခါတစ်ရံ ၌ မိုးကောင်းကင်ကြီးသည်ပင် တိမ်တိုက်များလောဟု ထင်ရပြန်၏။ တစ်ခါတစ်ရံ တွင် မိုးကောင်းကင်ကြီးသည် ပင် ဝေသီမြင့်မားလွန်းလှသည်ဟု ထင်ရ၍ တစ်ခါတစ်ရံ တွင်လည်း လက်ဖြင့် လှမ်းကိုင်လိုက်လျှင် ထိတော့မတတ် နိမ့်ဆင်း လာသည်ဟု ထင်ရပြန်၏။

ပီတာ၏မျက်လုံးများသည် တဖြည်းဖြည်း လေး လံလာကာ ခေါင်းသည် ငိုက်ကျစ ပြုလာ၏။

သစ်ပင်များသည် ရေစက်များကို ခါချလျက် ရှိ ကြ၏။ ခပ်တိုးတိုး စကားပြောသံသည် ထွက်ပေါ်လာ၏။ မြင်းများသည် ဟီကာ ကန်ကျောက်လျက် ရှိကြ၏။ တခေါခေါဟောက်သံသည် မှန်မှန်ကြီး ထွက်ပေါ်လျက် ရှိ၏။

ဂျိဂျိ ဂျိဂျိ ဟူသော ခေးသွေးသံသည် အဆက် မပြတ် ထွက်ပေါ်လျက်ရှိရာ ပီတာ၏ စိတ်၌ ဓမ္မသီချင်း တစ်ပုဒ်ကို သံစုံတီးဝိုင်းမှ တီးမှုတ်သီဆိုနေသလောဟု ထင်မိသည်။ ပီတာသည် ၎င်း၏ အစ်မထွေး နာတာရှာတဲ့ သို့ပင် ဂီတကို ဝါသနာပါ၍ သူ့အစ်ကို နီကိုလေထက် ဂီတကို နှစ်ခြိုက်သည်။ သို့ရာတွင် ဂီတကို ကား သင် လည်း မသင်ဖူး၊ တွေးတောခြင်းလည်း မပြုဖူးချေ။ ယခု မိမိ မမျှော်လင့်ဘဲ ကြားလိုက်ရသည့် ဂီတသံကား အထူး နှစ်လိုဖွယ်ကောင်းလေစွ၊ အထူးသာယာလေစွဟု ထင်မိ ၏။ ဂီတသံသည် တဖြည်းဖြည်း ကျယ်လောင်လာ၏။ တေးသံသည် တူရိယာတစ်ခုမှ တစ်ခုပေါ်သို့ ကူးပြောင်း ပြေးလွှားနေသည်ဟု ထင်ရ၏။ ထိုတေးသံမှာ သဖြန် ကလေးတစ်ပုဒ်နှင့် တူသည်ဟုလည်း စိတ်က ထင်၏။ (သဖြန်ဟူသည် အဘယ်နည်းဆိုသည်ကိုမူ ပီတာ နား မလည်ချေ။) တူရိယာများမှာလည်း တစ်ခါတစ်ရံ တယော သံနှင့် တူ၍ တစ်ခါတစ်ရံတွင်လည်း ခရာသင်းသံနှင့်  တူသည်ဟု ထင်ရ၏။ သို့ရာတွင် ၎င်းတို့သည် သံညှင်း သံတွဲ ဖြင့် တစ်သံစီ ထွက်ပေါ်လျက်ရှိရာမှ တေးဆုံးခါနီး ၌ အခြားတူရိယာသံများနှင့် ပေါင်းစပ်၍ သွားကြ၏။ တူရိယာသံများသည် တညီတည်း ပေါင်းစပ်၍ သွားကြ ပြီးနောက် တစ်သံစီ ကွဲလာကြပြန်ကာ နောက် ပြန်ပေါင်း သွားကြပြန်သည်။ တစ်ခါတစ်ရံ၌ သုဓမ္မာဇရပ်မှ ဓမ္မတေး သီချင်းသံနှင့်တူ၍ တစ်ခါတစ်ရံတွင်လည်း စိတ်ဓာတ် မြူးကြွဖွယ် စစ်ချီသံနှင့် တူလေသည်။

“ဟင်၊ အိပ်မက် မက်နေတာလား။ မဟုတ်ပါ ဘူး။ ငါ့စိတ်က ထင်နေတာနဲ့ တူပါတယ်။ ဟော ဟော တေးသံပေါ်လာပြန်ပြီ”

ပီတာသည် ရှေ့သို့ ငိုက်မျဉ်းရာမှ ဆတ်ခနဲ နိုး လာလေသည်။

ပီတာသည် မျက်လုံးများကို မှိတ်လိုက်ပြန်သည်။ တေးသံများသည် အဝေးမှ ပျံသန်းလာသကဲ့သို့ နီးရာမှ ဝေးသွားချည်၊ ဝေးရာမှ နီးလာချည်၊ နိမ့်ချည် မြင့်ချည်၊ တက်ချည် သက်ချည်၊ ကွဲချည် စုချည် ပေါ်ထွက်လျက် ရှိ၏။ ပီတာ၏ စိတ်တွင် တေးသံသည် မသာယာစဖူး သာယာလှချည့်ဟု ထင်မိ၏။ ပီတာသည် ထိုတူရိယာဝိုင်း ကြီးကို ခေါင်းဆောင်လျက် ရှိလေသည်။

“ကဲ ဟုတ်ပြီ။ အသံကို တဖြည်းဖြည်း ညှင်း ယူလာခဲ့” အသံသည် ညှင်းညှင်းမျှသာ ပေါ်လာ၏။ “ခပ်ကျယ်ကျယ်လေး၊ ခပ်ကျယ်ကျယ်လေး”ဟု ရွတ်ဆိုလိုက်သည်နှင့် စစ်ချီသံကဲ့သို့ မြူးကြွသော တေးသံများ သည် ပေါ်ထွက်လာ၏။ အစ၌ ယောကျ်ားသံများကို ကြားရ၍ နောက်တွင် မိန်းမသံများကို ကြားရ၏။ အသံ များသည် ခွန်အားပြည့်၍ မာန်ဆောင်လျက် ရှိကြ၏။ ပီတာသည် တေးသံရှင် ပီတိဖြစ်လျက် ရှိလေသည်။

မြူးကြွဖွယ် တေးသံနှင့်အတူ သစ်ပင်များပေါ်မှ ရေစက်များ ကျသံ၊ တဂျိဂျိ ခားသွေးသံတို့ကိုလည်း ကြားရသည်။ မြင်းများ ဟီသံ၊ လှုပ်ရှားသံကိုလည်း ကြားရ၏။ သို့ရာတွင် ထိုအသံများသည် ဂီတသံကို နှောင့်ယှက် ဖျက်ဆီးခြင်းမရှိဘဲ ၎င်းတို့သည်ပင် ဂီတသံ များ ဖြစ်၍ လာကြလေသည်။

ဤသို့ဖြင့် ပီတာသည် မည်မျှ ကြာသွားသည် မသိချေ။ ထိုတေးသံတွင် ကြည်နူးကာ ထိုတေးသံကို  မည်သူမျှ နားမထောင်ရလေခြင်းဟု စိတ်မကောင်း ဖြစ် လျက်ရှိသည်။ လိုက်ကာရှေ့၏ ကြင်နာသည့်အသံကို ကြားရသည့်အခါကျမှ ပီတာသည် နိုးလာလေသည်။

“ခားသွေးလို့ပြီးပြီ ဗိုလ်လေး။ ပြင်သစ်ကောင် တွေကို ခုတ်မိရင်တော့ တစ်ချက်တည်းနဲ့ တိခနဲ ပြတ်စေ ရမယ် ဗိုလ်လေးရဲ့”

ပီတာသည် လုံးဝ နိုးလာ၏။

"ဟေ တော်တော်တောင် လင်းနေပါပကောလား" ပီတာက အလန့်တကြား ဆို၏။

စောစောက မည်းမည်းမှောင်မှုသာ မြင်ရသော မြင်း များကို ယခု ထင်ရှားစွာ မြင်ရလေပြီ။ လင်းရောင်ခြည် သည် သစ်ကိုင်းများ ကြားမှ ပြူးထွက်လာခဲ့လေပြီ။ ပီတာ သည် သတိရကာ ဆတ်ခနဲ ထလိုက်ပြီးနောက် အိတ်ထဲ မှ ဒင်္ဂါးတစ်ပြားကို ထုတ်၍ လိုက်ကာရှေ့ကို ပေး၏။ ထိုနောက် ခေါးလွယ်ကို ဝှေ့၍ ဆကြည့်ကာ အသွားကို လက်ဖြင့် စမ်းကြည့်ပြီးနောက် အိမ်ထဲသို့ သွင်းလိုက် သည်။ ကော့ဆက်မြင်းတပ်သားများသည် မြင်းများကိုဖြေ ကာ ဝမ်းပတ်ကြိုးများကို ပြင်၍ ချည်လျက် ရှိကြသည်။

"ဟော တပ်မှူးတောင် လာနေပြီ ဗိုလ်လေးရဲ့" လိုက်ကာရှေ့က ဆို၏။

ဒင်နီဆော့ဗ်သည် တဲထဲမှ ထွက်လာကာ ပီတာ ကို လှမ်းခေါ်၏။ ထိုနောက် တပ်သားများအား ပြင်ဆင် ရန် အမိန့်များပေးလျက် ရှိလေသည်။

# အခန်း ၁၁

ပြောက်ကျားတပ်သားများသည် အမှောင်ချိုးဖျှ၍ မိမိတို့ ၏ မြင်းအသီးသီးကို လျင်မြန်စွာ ရွေးချယ်၍ ဝမ်းပတ် ကြိုးများကို ပြင်ချည်ခြင်း ပြုကြ၏။ တပ်ခွဲလိုက် တပ်ခွဲ လိုက် စုကြ၏။ ဒင်နီဆော့ဗ်သည် အစောင့်တဲတံခါးဝမှ ရပ်၍ နောက်ဆုံး ညွှန်ကြားချက်များကို ပေးလျက် ရှိ လေသည်။ ပြောက်ကျားတပ်ခွဲမှ ခြေလျင်တပ်စုတစ်စု သည် တောလမ်းကလေးအတိုင်း ချီတက်လာကြပြီးနောက် အရုဏ်ဦးနှင်းမြူများအောက်ရှိ သစ်ပင်များကြားတွင် ပျောက်ကွယ်သွားလေ

သည်။ ရွှံ့ထဲသို့ တစွက်စွက်ဖြတ် သန်းသွားသံများကို ကြားရလေသည်။ ကော့ဆက်တပ်ဗိုလ်  လိုဗေစကီသည် ၎င်း၏ တပ်သားများကို အမိန့်ပေးလျက် ရှိ၏။ ပီတာသည် မြင်း၏ ဝမ်းပတ်ကြိုးကို ကိုင်ကာ မြင်းသို့တက်ရန် အမိန့်ကို စောင့်လျက် ရှိ၏။ ရေအေး ဖြင့် သန့်စင်အပ်သော ပီတာ၏ မျက်နှာသည် ကြည်လင်နီမြန်းလျက်ရှိ၍ မျက်လုံးများသည် တောက်ပလျက် ရှိ ကြ၏။ ပီတာသည် စိမ့်ခနဲဖြစ်သွားရာက တစ်ကိုယ်လုံး တုန်သွားသည်။

"အားလုံး အဆင်သင့်ဖြစ်ရင် မြင်းတွေ ယူခဲ့ ဟေ့" ဒင်နီဆော့ဗ်က ပြောလိုက်သည်။

မကြာမီ မြင်းများ ရောက်လာ၏။ ဒင်နီဆော့ဗ် သည် ဝမ်းပတ်ကြိုးများကို လျော့တိလျော့ရဲ စည်းထား သဖြင့် ကော့ဆက်မြင်းတပ်သားကို စိတ်ဆိုးမာန်ဆိုးဖြင့် ကြိမ်းမောင်းပြီးနောက် မြင်းပေါ်သို့ တက်လိုက်သည်။

ပီတာသည် ခြေထောက်ကို ခြေနင်းကွင်းပေါ်သို့ တင်လိုက်သည်။ အကျင့်ရနေပြီဖြစ်သော ၎င်း၏မြင်းကြီး ကလည်း ထိလိုက်သည်နှင့် တစ်ပြိုင်နက် ခြေကြွလိုက် သည်။ သို့ရာတွင် ပီတာသည် မိမိကိုယ်ခန္ဓာ အလေးချိန် ကိုပင် သတိမပြုမိတော့ဘဲ ကုန်းနှီးပေါ်သို့ လွှားခနဲ ခုန် တက်လိုက်ပြီးနောက် အမှောင်ထဲတွင် မိမိနောက်မှ လိုက် ပါလာသော မြင်းတပ်သားများကို လှည့်ကြည့်လိုက်၍ ဒင်နီဆော့ဗ်အနီးသို့ စီးလာခဲ့သည်။

"ဗိုလ်မှူး ကျွန်တော့်ကို တာဝန်တစ်ခု ပေးပါလား ဗိုလ်မှူး" ပီတာက ပြောသည်။

ဒင်နီဆော့ဗ်သည် ပီတာကို မေ့လျော့နေဟန် ရှိ ၏။ ပီတာ့အသံကို ကြားသည့်အခါ၌ လှည့်ကြည့်လိုက် လျက် တင်းမာသော မျက်နှာဖြင့်

”မင်းကို ငါတစ်ခုပဲ တောင်းပန်ချင်တယ်ကွာ။ ငါ့အမိန့်ကို နားထောင်ပါ။ အမိန့်မရှိဘဲ ရှေ့မတက်ပါနဲ့။ ဒါပဲ”

ဒင်နီဆော့ဗ်သည် နောက်ထပ် တစ်ခွန်းမျှ မပြော တော့ချေ။ တစ်လမ်းလုံး တိတ်ဆိတ်စွာ စီးလာခဲ့လေ သည်။ တောစပ်သို့ ရောက်သည့်အခါ၌ မိုးစင်စင်လင်း ခဲ့လေပြီ။ ဒင်နီဆော့ဗ်သည် လိုဗေစကီနှင့် ခေါင်းချင်း ရိုက်လာကြ၏။ ကော့ဆက် မြင်းတပ်သားများသည် ပီတာ နှင့် ဒင်နီဆော့ဗ်တို့ကို ကျော်၍ စီးသွားကြသည်။ ၎င်း တို့အားလုံး ရှေ့သို့ တက်သွားကြသည့်အခါ၌ ဒင်နီဆော့ဗ် သည် မြင်းကိုတို့က တောင်ကမူလေးပေါ်မှ ဆင်းလာ ခဲ့သည်။ မြင်းများသည် ၎င်းတို့၏ သခင်များကို သယ် ပိုးကာ ဆင်ခြေလျှောအတိုင်း ဖင်ဒရွတ်တိုက်၍ ဆင်းလာ ကြ၏။ ပီတာသည် ဒင်နီဆော့ဗ်နှင့် ဘေးချင်းယှဉ်၍ စီးလာရင်း ရင်တဒိတ်ဒိတ်ခုန်လျက် ရှိသည်။ တဖြည်းဖြည်း လင်းသည်ထက် လင်းလာခဲ့ပြီ ဖြစ်သော်လည်း နှင်းများ ဖုံးအုပ်လျက်ရှိခြင်းကြောင့် ခပ်ဝေးဝေးမှ အရာဝတ္ထုများ ကို သဲကွဲစွာ မမြင်ရသေးချေ။ မြေပြန့်သို့ ရောက်သည်၌ ဒင်နီဆော့ဗ်သည် နောက်ပြန်လှည့်ကြည့်၍ “အချက်ပေး သေနယ်ဖောက်ဟေ့”ဟုဆိုကာ ခေါင်းညိတ်ပြလိုက်သည်။

ကော့ဆက်မြင်းတပ်သားသည် လက်တစ်ဖက် ဖြင့် သေနတ်ကို ထောင်၍ ဖောက်လိုက်၏။ ထိုအခါ၌ ရှေ့မှ တဖြောင်းဖြောင်းမြည်သော မြင်းခွာသံများနှင့် တကွ ညာသံများ၊ သေနတ်သံများ ထွက်ပေါ်လာလေသည်။ - ပီတာသည် မြင်းခွာသံများနှင့် ညာသံများကို ကြားလိုက်ရသည်နှင့် တစ်ပြိုင်နက် ဇက်ကြိုးကို လျှော့ကာ မြင်းကို ကြိမ်သွင်း၍ ဒုန်းစီးလာခဲ့၏။ ဒင်နီဆော့ဗ် ၏ ခေါ်သံကိုပင် ဂရုမစိုက်မိတော့ချေ။ ပီတာ၏ စိတ်၌ သေနတ်သံကို ကြားလိုက်ရသည်နှင့် တစ်ပြိုင်နက် လောက ဓာတ်တစ်ခုလုံးသည် နေမွန်းတည့်ချိန်ကဲ့သို့ လင်းလာသည် ဟု ထင်လိုက်ရသည်။ ပီတာသည် မြင်းကို တံတားဆီသို့ ကဆုန်စီး၍ လာခဲ့၏။ မိမိရှေ့မှ ကော့ဆက်မြင်းတပ်သား များကလည်း ကဆုန်စီးလျက် ရှိကြလေသည်။ တံတား

ပေါ် သို့ အရောက်၌ ပီတာသည် ကော့ဆက်မြင်းတပ်သားတစ် ယောက်နှင့် ဝင်တိုက်မိလေရာ ကော့ဆက်မြင်းတပ်သား မှာ မြင်းပေါ်မှ ကျွမ်းပြန်၍ ကျကျန်ရစ်ခဲ့လေသည်။ သို့ ရာတွင် ပီတာသည် ဂရုမစိုက်အားဘဲ တရကြမ်း ဆက်၍ စီးလာခဲ့သည်။ ပီတာ၏ ရှေ့၌ ပြင်သစ်များနှင့်တူသော တပ်သားများသည် လက်ယာဘက်မှ လက်ဝဲဘက်သို့ လမ်း ကို ကန့်လန့်ဖြတ်၍ ကူးလျက်ရှိကြ၏။ ၎င်းတို့အနက် တစ်ယောက်မှာကား ရွံ့ထဲတွင် လဲကျသွားကာ ပီတာ၏ မြင်းအောက်သို့ ရောက်သွားလေသည်။

ကော့ဆက်မြင်းတပ်သားများသည် တဲတစ်လုံး တွင် စုပြုံဝိုင်းအုံလျက် ရှိကြ၏။ ထိုလူအုပ်ကြားထဲမှ ထိတ်လန့်စဖွယ် အော်သံများကိုလည်း ကြားရသည်။ ပီတာသည် ထိုနေရာသို့ စီး၍လာခဲ့ရာ ဖြူရော်သော မျက်နှာဖြင့် မေးတဆတ်ဆတ်တုန်လျက်ရှိသော ပြင်သစ် တပ်သားတစ်ယောက်သည် မိမိ၏ရင်ဝသို့ ချိန်ရွယ်ထား သောလှံကို ကြောက်အားလန့်အားဖြင့် တွန်းဖယ်လျက် ရှိခြင်းကို မြင်ရ၏။

“ဟေး ဟေး။ တက်ဟေ တက်” ပီတာသည် ဤသို့ အော်ကာ မြူးကြွလျက်ရှိသော မိမိ၏ မြင်းကြီးကို ဇက်ပုံ၍ ပေးလိုက်ပြီးနောက် ရွာလမ်းတစ်လျှောက် ဒုန်း စိုင်း၍ စီးလာခဲ့ပြန်သည်။

ရှေ့မှ သေနတ်သံများကို ပီတာ ကြားရသည်။

ကော့ဆက်မြင်းပပ်သားများ၊ ရုရှားမြင်းတပ်သား များ၊ အစုတ်စုတ်အပြတ်ပြတ် ရုရှားသုံ့ပန်းများသည် လမ်းဘေးတစ်ဖက်တစ်ချက်မှ ပြေးထွက်လာကြကာ တစ်စုံ တစ်ရာကို ပလုံးပထွေး ဆူညံစွာ အော်ဟစ်လျက် ရှိကြ သည်။ အပြာရောင် ဝတ်ရုံကြီးကို ဝတ်ထားလျက် ရဲရင့် ဟန်ရှိသည့် နီရဲခက်ထန်သော မျက်နှာထားကို ဆောင် ထားသည့် ပြင်သစ်တပ်သားတစ်ဦးသည်

မြင်းတပ်သားများ ကို လှံစွပ်တစ်ချောင်းဖြင့် အကြိတ်အနယ် ခုခံတိုက်ခိုက် လျက် ရှိသည်။ ပီတာသည် အများနည်းတူ ပြင်သစ် တပ်သားကို တိုက်ခိုက်ရန် အတင်း တိုးဝှေ့၍ လာခဲ့သော် လည်း ထိုနေရာသို့ ပီတာရောက်သည့်အချိန်တွင် ပြင်သစ် တပ်သားမှာ လဲကျသွားလေပြီ။ ပီတာ၏စိတ်တွင် ဤ အချိန်တွင်လည်း နောက်ကျသွားပြန်လေပြီဟု အောက် မေ့ကာ သေနတ်သံများ တရစပ် ထွက်ပေါ် လျက်ရှိရာသို့ မြင်းကို ဒုန်းစိုင်းခဲ့ပြန်သည်။ သေနတ်သံများမှာ ယမန် နေ့ညက ဒိုလိုကော့ဗ်နှင့်အတူ ဝင်ခဲ့သော မြေပိုင်ရှင်၏ အိမ်ဝိုင်းထဲမှ ပေါ်ထွက်လျက်ရှိခြင်း ဖြစ်၏။ ပြင်သစ်များ သည် ချုံနွယ်များ ထူထပ်လှသော ခြံထဲမှ ကြခတ်စည်း ရိုးကို ကွယ်၍ ဝင်းထဲသို့ စုပြုံဝင်လာသော ကော့ဆက်မြင်း တပ်သားများကို ပြန်လှန် ပစ်ခတ်လျက် ရှိကြလေသည်။ ပီတာ ဝင်းဝနားသို့ အရောက်တွင် ဒိုလိုကော့ဗ်ကို မီးခိုး လုံးများအကြားမှ မြင်လိုက်ရ၏။ ဒိုလိုကော့ဗ်သည် မျက်နှာဖြူရော်လျက် ရှိ ရင်းက ၎င်း၏ တပ်သားများကို အော်ဟစ်အမိန့်ပေးလျက် ရှိလေသည်။

“ဝိုင်းထား၊ ကိုင်းထား၊ အရမ်းမဝင်နဲ့။ ခြေလျင် တပ်စုတွေကို စောင့်ဦး” ဒိုလို ကော့ဗ်သည် အော်ဟစ် လျက် ရှိ၏။ ပီတာသည် အနီးသို့ ရောက်လာလေသည်။

”ဟေး ဘာလို့ စောင့်နေရဦးမှာလဲ၊ တက်လေ့၊ တက်ကွ ချကွ”

ပီတာသည် မြင်းကို ဇက်သတ်ခြင်း မပြုတော့ဘဲ မီးခိုးများ အထူထပ်ဆုံး၊ ပစ်ခတ်သံ အဆူညံဆုံး နေရာ ဆီသို့ တောက်လျှောက် စီးချလာခဲ့လေသည်။

ထိုအခိုက် သေနတ်သံတစ်ချက် ထွက်ပေါ်လာကာ ကျည်ဆန်များသည် တ ရှဲရှဲ ဖြတ်သန်းသွားကြ၏။ အချို့ ကျည်ဆန်များကား တဒက်ဒက် ထိမှန်လျက် ရှိ ကြလေ သည်။ ကော့ဆက်မြင်းတပ်သားများနှင့် ဒိုလိုကော့ဗ်သည် ရှေ့ဆုံးမှ ပီတာ ဝင်သွားပြီ ဖြစ်သည့်အလျောက် ဝင်းတံခါး မှ စုပြုံ၍ ဝင်လိုက်လာကြသည်။ မည်း

မှောင်လျက်ရှိ သော မီးခိုးလုံးကြီးများကြားတွင် အချို့ပြင်သစ်တပ်ဗိုလ် များသည် လက်နက်များကို ပစ်ချကာ ချုံထဲမှ ထွက်လာကြ ၏။ အချို့ကား ကမူအောက်ခြေရှိ ကန်ကလေးဘက်ဆီ သို့ ထွက်ပြေးကြလေသည်။ ပီတာသည် ဝင်းထဲတွင် မြင်းကို ဒုန်းစီးလျက် ရှိ၏။ သို့သော်လည်း ပီတာသည် မြင်းဇက်ကြိုးများကို ကိုင်ထားခြင်း မပြုတော့ချေ။ ၎င်း၏ လက်များသည် တွဲလောင်းကျကာ ထိုမှ ဤမှ ခါယမ်းလျက်ရှိ၍ ၎င်း၏ ခန္ဓာကိုယ်သည်လည်း တဖြည်းဖြည်း ယိမ်းထိုး ယိုင်ကျလာသည်။ ပီတာ၏ မြင်းသည် နံနက် ခင်းနေရောင်တွင် ငြိမ်းလုဆဲဖြစ်သော စခန်းမီးပုံကြီးတစ်ပုံ အနီးသို့ ဒုန်းစိုင်းလာရာမှ အနီးသို့ အရောက်တွင် ရုတ် တရက် တန့်လိုက်သည်။ ပီတာသည် မီးပုံအနီး စိုရွှဲလျက် ရှိသော မြေကြီးပေါ်သို့ အုံးခနဲ ကျသွား၏။ ပီတာ၏ ခေါင်းသည် လှုပ်ရှားခြင်း မရှိတော့သော်လည်း လက် များနှင့် ခြေထောက်များသည် ဆန့်ငင်ဆန့်ငင်ဖြစ်လျက် ရှိခြင်းကို ကော့ဆက်တပ်သား များ မြင်လိုက်ကြရသည်။ ကျည်ဆန်တစ်ဆန်သည် ပီတာ၏ ခေါင်းခွံထဲသို့ ဖောက် ထွင်း ဝင်ရောက်သွားခဲ့လေပြီ။

ပြင်သစ်တပ်ဗိုလ်တစ်ယောက်သည် ဓားလွယ်တွင် ပဝါဖြူချည်၍ အိမ်ထဲမှ ထွက်လာပြီးနောက် လက်နက် ချပြီ ဖြစ်ကြောင်း အော်ပြော၏။ ဒိုလိုကော့ဗ်သည် ထို ပြင်သစ်တပ်ဗိုလ်နှင့် ခေတ္တစကားပြောပြီးနောက် မြင်းပေါ် မှ ခုန်ဆင်းကာ ပီတာ့ထံသို့ ပြေးလာခဲ့သည်။ ပီတာမှာ ၊ လက်နှစ်ဖက်ဆန့်ကာ ငြိမ်သက်လျက် ရှိလေပြီ။

“သွားပြီ” ဒိုလိုကော့ဗ်သည် မျက်မှောင်ကုတ်လိုက် ပြီးနောက် ဝင်းတံခါးဆီသို့ လျှောက်လာခဲ့သည်။ ထိုအချိန် ၌ ဒင်နီဆော့ဗ်မှာ ဒိုလိုကော့ဗ်ထံသို့ မြင်းစီး၍ လာနေ လေပြီ။

“ကျသွားပလား” ဒင်နီဆော့ဗ်သည် လဲကျနေ သော ပီတာကို မြင်လိုက်သည့်အခါတွင် အသက်ကင်းမဲ့ လျက် ရှိခြင်းကို ချက်ချင်း နားလည်လိုက်ကာ (ဤအဖြစ် မျိုးကို မကြာခဏ တွေ့ဖူးနေပြီဖြစ်သည့်အလျောက် မြင် လျှင် မြင်ချင်း နားလည်နေလေပြီ။ ဒိုလိုကော့ဗ်ကို လှမ်း မေးလိုက်၏။

“သွားပြီဗျ” ထိုစကားလုံးများကို ရွတ်ဆိုရခြင်း သည် ၎င်းအတွက် ပျော်ရွှင်ခြင်းကို ဖြစ်စေသည့်နှယ် ဒိုလိုကော့ဗ်က ထပ်၍ ပြောလိုက်သည်။ ဒိုလိုကော့ဗ်သည် ကော့ဆက်မြင်းတပ်သားများ ဝိုင်းထားသည့် ပြင်သစ်သို့ရ များထံသို့ လျှောက်သွားပြီးနောက် ဒင်နီဆော့ဗ်ကို လှမ်း ခေါ်ကာ

”ဗိုလ်မှူး သုံ့ပန်းတွေ ဘာတွေ ခေါ်မနေနဲ့ဗျာ၊ တာဝန်ကြီးတယ်”ဟု ဆိုလိုက်၏။

ဒင်နီဆော့ဗ်သည် မည်သို့မျှ မပြောဘဲ ပီတာ၏ အလောင်းအနီးသို့ စီးသွားကာ မြင်းပေါ်မှ ဆင်းသွားပြီး နောက် တုန်ယင်သော လက်များဖြင့် ပီတာ၏ မျက်နှာ ကို လှန်လိုက်လေသည်။ ပီတာ၏ မျက်နှာကား သွေး အလိမ်းလိမ်းကပ်လျက် ရွှံ့တွေ ပေကျံလျက်ရှိကာ ဖြူ ရော်လျက် ရှိလေပြီ။

“ကျွန်တော်က ချိုချိုချဉ်ချဉ်ကလေးလဲ ဝါးရမှဗျ။ ကျွန်တော့်မှာ စပျစ်ခြောက်တွေ ပါလာတယ်။ လိုချင် ယူထားလိုက်ကြလေဗျာ” ဒင်နီဆော့ဗ်သည် ပီတာ၏ စကားများကို ကြားယောင်မိသည်။ ဒင်နီဆော့ဗ်သည် ခွေးတစ်ကောင်ထိုး၍ ဟောင်လိုက်သကဲ့သို့ တစ်ချက်မျှ ကျယ်လောင်စွာရှိုက်ကာ လှည့်ထွက်လာခဲ့ပြီးနောက် ခြံ စည်းရိုးတိုင်ကို ဆုပ်၍ ငိုလျက်ရှိလေသည်။ ကော့ဆက် မြင်းတပ်သားများသည် ဒင်နီဆော့ဗ်၏ ငိုသံကြောင့် တအံ့တသြ လှည့်၍ ကြည့်နေကြ၏။

ဒင်နီဆော့ဗ်နှင့် ဒိုလိုကော့ဗ်တို့သည် ထိုတိုက်ပွဲ ၌ ရုရှားသုံ့ပန်း အများအပြားကို ကယ်ဆယ်ခဲ့ရာ ၎င်း တို့ ကယ်ဆယ်လိုက်သော ရုရှားသုံ့ပန်းများအနက်

ပီယာ တစ်ယောက်လည်း အပါအဝင် ဖြစ်လေသတည်း။

# အခန်း ၁၂

မော်စကိုမှ ဆုတ်ခွာလာခဲ့သည့် လမ်းတစ်လျှောက်လုံး တွင် ပြင်သစ် အာဏာပိုင်များသည် ပီယာအပါအဝင် ရုရှားသို့ပန်းများနှင့် စပ်လျဉ်း၍ အမိန့်သစ် တစ်စုံတစ်ရာ ထုတ်ပြန်ခြင်း မပြုတော့ချေ။ အောက်တိုဘာလ ၂၂-ရက် နေ့၌ ရုရှား သုံ့ပန်းများကို စောင့်ကြပ်လိုက်ပါလာသော အစောင့်တပ်များနှင့် ဝန်တင်လှည်း များမှာ မော်စကိုမှ အတူပါလာသော အစောင့်တပ်များနှင့် ဝန်တင်လှည်းများ မဟုတ်တော့ချေ။ ဝန်အပြည့်တင်ထားသည့် ဝန်တင်လှည်း များအနက် တစ်ဝက် ခန့်မှာ ရှေ့သို့ရောက်နှင့်ကြပြီး ကျန် တစ်ဝက်ခန့်မှာ ကော့ဆက်မြင်းတပ်သားတို့ လက်ထဲ၌ ကျန်ရစ်ခဲ့လေပြီ။ သုံ့ပန်းများရှေ့မှ ချီတက်သွားကြသည့် မြင်းမရှိတော့ သော ပြင်သစ်မြင်းတပ်သားတို့မှာလည်း တစ်ယောက်မျှမကျန်တော့ဘဲ ပျောက် ခြင်းမလှ ပျောက် သွားကြလေပြီး၊ မော်စကိုမှ ထွက်ခါစက ရုရှားသုံ့ပန်းများ ရှေ့မှ ချီတက်လျက်ရှိသော ပြင်သစ်အမြောက်တပ်မကြီး မှာလည်း အရိပ်အယောင်မျှ မ ကျန်တော့ဘဲ ပျောက်ကွယ် သွားခဲ့ကာ ၎င်းတို့နေရာ၌ ဝက်စဖားလျှအစောင့်တပ် များ ခြံရံထားသည့် ပြင်သစ်စစ်သူကြီးစေ့၏ ရှည်လျား လှသော ဝန်တင်လှည်း တန်းကြီးကို တွေ့ရလေသည်။ သုံ့ပန်းများနောက်မှ မြင်းတပ်ဝန်တင် လှည်းတန်း ကြီး လိုက်ပါလာလေသည်။

ပြင်သစ်စစ်တပ်ကြီးသည် ဗျာဇမာသို့ ရောက်သည် အထိ စစ်ကြောင်းသုံး ကြောင်းခွဲ၍ ဆုတ်ခွာလာခဲ့သော် လည်း ဗျာဇမာမှ လွန်သောအခါ၌မူ တစ်ပေါင်း တည်းစု၍ ဆုတ်လာခဲ့လေသည်။ ပီယာသည် မော်စကိုမှ ထွက်လာ ၍ ပထမ စခန်းချ ရပ်နားကတည်းက ပြင်သစ်တပ်များ အတွင်း၌ ဖရိုဖရဲဖြစ်လျက်ရှိသော

လက္ခဏာများကို သတိပြုမိခဲ့ရာ ဗျာဇမာမှ ထွက်သောအခါတွင်ကား ထို လက္ခဏာများသည် အထွတ်အထိပ်သို့ ရောက်လာခဲ့လေ ပြီ။

လမ်းဘေးတစ်ဖက်တစ်ချက်၌ မြင်းသေကောင် များ၊ ရှေ့မှ ချီတက်သွားသော တပ်များမှ လဲကျကျန်ရစ်ခဲ့ သူများသည် အတုံးအရုံး မကြည့်ချင်အဆုံး ဖြစ်လျက် ရှိ ၏။ ကျန်ရစ်သူများသည် တပ်သစ်တစ်သစ်ဖြတ်လာသည် ၌ ထ၍ လိုက်လာခဲ့ကြပြန်ကာ ခဏကြာလျှင် လဲကျ ကျန်ရစ်ခဲ့ကြပြန်သည်။

လမ်းခရီးတစ်လျှောက်၌ မကြာခဏလည်း တပ် လန့်တတ်သည်။ အစောင့်တပ်သားများသည် သေနတ် များကို ထောင်၍ ပစ်ကြပြီးနောက် တပ်ဦးနှင့် တပ်ဖျား ခေါက်တုံ့ခေါက်ပြန် တိုးဝှေ့ပြေးကာ လူစစ်ခြင်း ပြုကြ၏။ ထိုနောက် နဂိုနေရာသို့ ပြန်စုကာ အကြောင်းမဲ့ တပ်လန့် ခြင်းအတွက် တစ်ယောက်ကိုတစ်ယောက် ဆဲရေးခြင်း ပြုကြပြန်သည်။

သုံ့ပန်းများနှင့်အတူ ဆုတ်ခွာလျက်ရှိသော တပ် များ၌ အစုသုံးစုပါရှိရာ ၎င်းတို့မှာ မြင်းတပ် ရိက္ခာတင် လှည်းတပ်တစ်တပ်၊ သုံ့ပန်းအစောင့်တပ်တစ်တပ်နှင့် စစ် ( သူကြီးဂျူနော့၏ ဝန်တင်လှည်းတပ်တို့ ဖြစ်၏။ ထိုတပ် သုံးတပ်သည် ယခုအချိန်အထိ သီးခြားတပ်များအဖြစ် ရပ်တည်ကာ စစ်တပ်ကြီးတစ်ခုအဖြစ် ပေါင်းစည်းထား နိုင်သေးသော်လည်း တပ်အသီးသီးမှာ လျင်မြန်စွာ ပြို ဆင်းလျက်ရှိလေပြီ။

အမြောက်တပ် ဝန်တင်လှည်းတပ်သည် ဝန်တင် လှည်းပေါင်း တစ်ရာ့နှစ်ဆယ် ပါသည့်အနက် ယခု ခြောက်ဆယ်ထက် မပိုတော့ချေ။ ကျန်လှည်းများမှာ ရုရှား တို့၏လက်သို့ ပါသွားကြလေပြီ။ အချို့လည်း နောက် တွင် ကျန်ရစ်ခဲ့ကြလေပြီ။ စစ်သူကြီး ဂျူးနော့၏ ဝန်တင် လှည်းများအနက် အချို့မှာလည်း ရုရှားတို့လက်သို့ ရောက် သွားကာ အချို့ကို စွန့်ပစ်ခဲ့ရလေပြီ။ ၎င်းတို့အနက် ဝန်တင်

လှည်းသုံးစီးကို ပြင်သစ်စစ်သူကြီး ဒါဗောက်၏ တပ်များက တိုက်ခိုက်၍ လုယူလိုက်ကြသည်။ ဂျာမန်တပ် သားများထံမှ ကြားရသည့် သတင်းအဆိုအရ မိမိတို့သူ့ ပန်းများထက် ဝန်တင်လှည်းများကို အစောင့်တပ်များ ထူထပ်စွာ ချထားသည်ဟု ပီယာ သိရလေသည်။ ဂျာမန် တပ်သားတစ်ဦးမှာ ၎င်း၏ အိတ်ထဲတွင် စစ်သူကြီးဂျူ နော့၏ ငွေဖွန်းတစ်ချောင်း တွေ့ရှိသဖြင့် စစ်သူကြီး ဂျူ နော့၏ အမိန့်အရ ပစ်သတ်ခြင်း ခံရသည်ဟုလည်း ကြား သိရလေသည်။

ဆုတ်ခွာလာသော တပ်များ အသီးသီး အဖိတ် အစဉ်များကြသည့်အနက် ရုရှားသုံ့ပန်းများမှာ အဖိတ်အစဉ်  အများဆုံး ဖြစ်လေသည်။ မော်စကိုမှ စတင်ထွက်ခွာ လာစဉ်က သုံ့ပန်းပေါင်း သုံးရာ့သုံးဆယ်ရှိရာ ယခုအချိန် ၌ တစ်ရာမဲ့မဲ့သာ ကျန်ခဲ့လေပြီ။ အစောင့်တပ်သားများ အဖို့မှာကား ရုရှားသုံ့ပန်းများသည် စစ်သူကြီးနော့၏ ဝန်တင်လှည်းများနှင့် မြင်းတပ်သုံး ကုန်းနှီးတင် လှည်း များထက် အနှောင့်အယှက်ဖြစ်လျက် ရှိသည်။ နော့၏ ဝန်တင်လှည်းများမှ ပစ္စည်းများနှင့် မြင်းကုန်းနှီးများသည် ၎င်းတို့အဖို့ အသုံးဝင်ကောင်းဝင်ဦးမည် ဖြစ်သော်လည်း ဆာလောင်မွတ်သိပ်၍ အသည်းခိုက်ခိုက်တုန်မတတ် ချမ်း လှသော တပ်သားများက အလားတူပင် ဆာလောင်မွတ် သိပ်၍ အသည်းခိုက်ခိုက်တုန်အောင် ချမ်းလျက်ရှိရုံမျှ မက လမ်းမပေါ်တွင် သွေးခဲကာ မကြာခဏ လဲကျနေသော ရုရှားသုံ့ပန်းများကို (မလိုက်နိုင်က ပစ်သတ်ရန် အမိန့်ရ ပြီးဖြစ်သည်။) စောင့်ရှောက်လိုက်ပါရခြင်းကိုကား နားမလည် နိုင်ဖြစ်လျက် ရှိရုံမျှမက စက်ဆုပ်ဖွယ်ပင် ကောင်းသေးတော့သည်ဟု ထင်မှတ်လျက် ရှိသည်။ ထိုအထဲ၌ အစောင့် တပ်သားများမှာ ၎င်းတို့ကိုယ်တိုင် ကြီးစွာ ဒုက္ခကြုံနေကြရ ပြီဖြစ်ရကား သုံ့ပန်းများကို သနားကရုဏာ သက်မိသော် လည်း မိမိတို့ကို ဒုက္ခပေးလျက်ရှိသည့် သုံ့ပန်းများကို သနားကြင်နာခြင်း မပြုမိအောင် တမင်အားတင်းထား သည့်နှယ် တင်းမာသောမျက်နှာထားကြီးများကို ဆောင် လျက် ရက်စက်ကြမ်းကြုတ်စွာ ဆက်ဆံခြင်း ပြုကြလေ သည်။

ဒိုရိုဂိုဘုဇ်အမည်ရှိသော ဒေသတစ်ခုသို့ ရောက် သည်၌ အစောင့်တပ်သား များသည် သုံ့ပန်းများကို မြင်း ဇောင်းတစ်ခုထဲတွင် သော့ပိတ်၍ လှောင်ကာ ၎င်းတို့ကိုယ် တိုင်မှာမူ ၎င်းတို့တပ်များ၏ ရိက္ခာပစ္စည်းများကို ထွက် ၍ လုယက်ကြလေတော့သည်။ အချို့သောသုံ့ပန်းများမှာ မြင်းဇောင်းနံရံအောက်မှ ဥမင်လိုဏ်ခေါင်းတူး၍ ထွက် ပြေးကြ၏။ သို့ရာတွင် ပြင်သစ်တို့၏ ပြန်လည်ဖမ်းဆီး ခြင်းကို ခံရကာ ပစ်သတ်ခြင်း ခံကြရလေသည်။

မော်စကိုမှ ထွက်လာစဉ်က သုံ့ပန်းများကို တပ် ဗိုလ်တခြား၊ တပ်သား တခြား ခွဲ၍ ခေါ်ဆောင်လာခဲ့သော် လည်း ယခုမူ တခြားစီ ခွဲ၍ မထားနိုင်တော့ချေ။ တပ်ဗိုလ် ဖြစ်စေ၊ တပ်သားဖြစ်စေ လမ်းလျှောက်နိုင်သူများကို အတူ စုပြုံခေါ်လာခဲ့၍ လမ်းမလျှောက်နိုင်သူများကိုမူ  စုပြုံထားပစ်ခဲ့လေသည်။ ပီယာသည် နောက်ကျ၍ ကျန် ရစ်ခဲ့သော်လည်း သုံးထောက်ခန့်နားပြီးသည့်နောက်၌ ကာရာတာယက်နှင့် ခြေခွင်ခွင် အမြီးပွပွ ခွေးကလေး ‘နက်ကျော်”ကို မီလာခဲ့လေသည်။ ယခုအချိန်၌ “နက်ကျော်” မှာ ကာရာတာယက်ကို ၎င်း၏ သခင်အဖြစ် ရွေးချယ်ခဲ့လေပြီ။

ကာရာတာယက်သည် မော်စကိုတွင်ရှိစဉ်ကအဖျား ကြောင့် ဆေးရုံတက်ခဲ့ရလေသည်။ မော်စကိုမှ ထွက်၍ တတိယမြောက်နေ့သို့ ရောက်သောအခါ၌ ထပ်၍ ဖျား ပြန်လေသည်။ ကာရာတာယက် ခွန်အားဆုတ်ယုတ်လာ သည်၌ ပီယာသည် အနားသို့ မသွားတော့ချေ။ မည်သည့် အတွက်ကြောင့်ဟူ၍ စဉ်းစားမရသော်လည်း ကြာရာတာ ယက်အနီးသို့သွားရန် ဝန်လေးလျက် ရှိလေသည်။ စခန်း ချ ရပ်နားသည့်အခါများ၌ အနီးသို့ မတော်တဆ ရောက် သွားသဖြင့် အစန့်သား လဲနေသော ကာရာတာယက်၏ ညည်းညူသံကို ကြားရသည့်အခါတွင် လည်းကောင်း၊ ပုပ်ဟောင် စူးဝါးလှသော အနံ့ကြီးကို ရသည့်အခါ၌ လည်းကောင်း ပီယာသည်

ကာရာတာယက်ကို ဖဲကြဉ်ခဲ့ ကာ ၎င်း၏အကြောင်းကိုလည်း စဉ်းစားတွေးတော ခြင်း မပြုတော့ချေ။

လူသည် ပျော်ရွှင်ဖို့ မွေးဖွားလာခြင်း ဖြစ်လေ သည်။ ပျော်ရွှင်မှုသည်လည်း မိမိကိုယ်တွင်း၌သာ တည် လေသည်။ လူ၏ အခြေခံ လိုအပ်ချက်များ ပြည့်စုံခြင်း ၌သာ တည်လေသည်။ စိတ်မချမ်းသာခြင်း ဟူသမျှတို့ သည် မရှိဆင်းရဲခြင်း ကြောင့် ဖြစ်ရခြင်းမဟုတ်ဘဲ သုံးစွဲ ၍ မကုန်နိုင်အောင် ပေါများခြင်းကြောင့် ဖြစ်ရ ခြင်းသာ ဖြစ်လေသည်။ ပီယာသည် သုံ့ပန်းစခန်းတွင် နေခဲ့ရစဉ် ထိုအသိတရားကို သိမြင်လာခဲ့လေသည်။ သို့ရာတွင် အသိဖြင့် သိခြင်းမဟုတ်ဘဲ ၎င်း၏အသွေး၊ ၎င်း၏အသား၊ ၎င်း၏ ခန္ဓာဖြင့် ခံစားသိရှိခဲ့ခြင်း ဖြစ်လေသည်။ ဘဝဖြင့် သိခဲ့ခြင်း ဖြစ်လေသည်။ ပြင်သစ်များခေါ်ဆောင်ရာသို့ လိုက်ပါလာရသည့် ရက်သတ္တသုံး ပတ်အတွင်း၌ကား ပီယာ သည် စိတ်၏ သက်သာမှုကို ဖြစ်စေသည့် တရားသစ်၊ အမြင်သစ်တစ်ခုကို ရရှိခဲ့ပြန်လေပြီ။ ထိုတရားကား အခြားမဟုတ်။ လောက၌ ထိတ်လန့်ကြောက်မက်ဖွယ် ကောင်းသောအရာဟူ၍ မည်သည့်အရာမျှ မရှိဆို သည့်  အချက် ဖြစ်လေသည်။ လူသည် မည်သည့်အခြေအနေ၊ မည်သည့်အခါမျိုး တွင်မှ လုံးဝလွတ်လပ်ခြင်းနှင့် ပျော် ရွှင်ခြင်းကို မရနိုင်သကဲ့သို့ မည်သည့် အခြေအနေ၊ မည် သည့်အခါမျိုးတွင်မှလည်း မလွတ်လပ်ခြင်း၊ စိတ်ဆင်း ရဲခြင်း ဖြစ်ရန် မလိုဟူသော အသိတရားကိုလည်း ပီယာ တွေ့ရှိခဲ့လေပြီ။ လောက၌ ပျော် ရွှင်ခြင်းနှင့် စိတ်ဆင်းရဲ ခြင်း၊ လွတ်လပ်ခြင်းနှင့် မလွတ်လပ်ခြင်း စသည်တို့သည် အတိုင်းအဆမရှိ တည်ရှိနေကြသည်မဟုတ်။ တစ်စုံတစ်ခု သော အတိုင်းအတာသို့ ရောက်သည်၌ ကုန်ဆုံးကြရသည် သာ ဖြစ်လေသည်။ ၎င်းတို့အသီးသီး၌ ကန့်သတ်ချက် အတိုင်းအတာရှိကြသည်သာဖြစ်၍ ၎င်းတို့သည်လည်း တစ်ခုနှင့် တစ်ခု နီးကပ်လျက် ရှိကြသည်သာ ဖြစ်လေ သည်။ ဆင်းရဲခြင်းနှင့် ချမ်းသာခြင်း တို့သည် မိုးနှင့်မြေကြီး ပမာ ဝေးကွာသည် ထင်ရသော်လည်း တကယ်၌ကား

သံကြိုးတစ်ခု၏ ကွင်းဆက်များကဲ့သို့ တစ်ခုနှင့်တစ်ခု ထိစပ်လျက်သာ ရှိလေသည်။ နှင်းဆီပန်းတို့ဖြင့် ခင်းအပ် သော စက်ရာထက်၌ အိပ်စက်နေသူတစ်ဦးသည် စည်း စိမ်ချမ်းသာရှိခြင်းအရာ၌ ဆိုဖွယ်မရှိဟု ထင်ရသော်လည်း ပန်းဝတ်ပန်းလွှာကလေးတစ်ချပ် တွန့်ကျေဖုထစ်နေခြင်း ကြောင့် ဆင်းရဲခြင်း ဖြစ်ရသေးသည် မဟုတ်လော။ သို့ ဖြစ်လျှင် ထိုသူ၏ ဘဝသည် စွတ်စိုထိုင်းမှိုင်းသော မြေကြီး ပေါ်တွင် အိပ်ရခြင်းကြောင့် ကိုယ်တစ်ခြမ်းနွေး၍ ကိုယ် တခြမ်းအေးစက်လျက်ရှိသော မိမိ၏အဖြစ်နှင့် မည်သို့ ခြားနားသေးသနည်း။ ဆင်းရဲခြင်းအရာ၌ အတူတူပင် မဟုတ်ပါလော။ စည်းစိမ်ချမ်းသာ ရှိစဉ်၌ တင်းကျပ်သော ပွဲတက်ဖိနပ်ခြေနင်းကို ဝတ်ရခြင်းသည်လည်း ယခု မိမိ နည်းတူ အိုင်းအနာတို့ဖြင့် ဖူးဖူးရောင်၍ (ဖိနပ်ခြေနင်းတို့ စုတ်ပြတ်ခဲ့ခြင်းကြောင့်) ဗလာသက်သက်ခြေထောက်ဖြင့် ကြမ်းတမ်းသောလမ်းပေါ်တွင် လျှောက်သွားရခြင်းကဲ့သို့ ပြင်းစွာနာကျင်ခြင်းဖြစ်ရသည်သာ မဟုတ်လော။ မိမိ သည် မိမိ၏ဇနီးသည် ဟယ်လင်မင်းသမီးအား မိမိ၏ စိတ်ဆန္ဒအလျောက် လွတ်လပ်စွာ ရွေးချယ်ဆုံးဖြတ်၍ လက်ထပ်ခဲ့ခြင်း ဖြစ်သော်လည်း မလွတ်လပ်ခြင်းအရာ၌ ယခုကဲ့သို့ မြင်းဇောင်းထဲတွင် ပိတ်၍ အချုပ်အနှောင်ခံရ ခြင်းနှင့် မည်သို့ ခြားနားသေးသနည်း။ ပီယာသည် ဤ တရားကိုလည်း သဘောပေါက်လာခဲ့လေပြီ။ မိမိတွေ့ကြုံ နေရသည့် ဆင်းရဲဒုက္ခဟု ပီယာ ယူဆသော အရာများ အနက် အကြီးဆုံးသော ဒုက္ခကား ပွန်းပဲ့ဖူးရောင်ကာ အိုင်းအနာတို့ဖြင့် ဖုံးလွှမ်းလျက်ရှိသော ဖိနပ်မပါ ဗလာသက်သက်ဖြစ်လျက်ရှိသည့် ခြေထောက်များ၏ အခြေ အနေပင် ဖြစ်လေသည်။

(မြင်းသားစားရခြင်းကိုလည်း ဒုက္ခဟု မယူဆတော့ ပါ။ အရသာရှိ၍ အားရှိပါသေးသည်။ ဆားအစား ယမ်း မှုန့်ကို စားရခြင်းကိုလည်း ဒုက္ခဟု မထင်တော့ပါ။ ၎င်း က ဆားထက်ပင် အနံ့အရသာ ပိုသေးသည်ဟုပင် ထင် မိပါသေးသည်။ အအေးဒဏ်ကိုလည်း မမှုပါ။ နေ့တွင် လမ်းလျှောက်ခြင်းဖြင့် သွေးပူစေနိုင်၍ ည

တွင် စခန်းမီးပုံ ဘေးတွင် မီးလှုံခြင်းဖြင့် အချမ်းပြေစေနိုင်ပါသည်။ ကိုယ် ပေါ်တွင် သန်းကြီးမများ တရွရွတက်နေခြင်းသည်လည်း အရေးမကြီးပါ။ သွေးကို လှုပ်ရှား စေခြင်းကြောင့် အချမ်း ပင် ပြေပါသေးသည်။) အဆိုးဆုံးကား ခြေထောက်များ ဖူး ဖူးရောင်လျက် ရှိခြင်းဖြစ်လေသည်။

မော်စကိုမှ ထွက်လာ၍ ဒုတိယမြောက်နေ့၌ စခန်းချရာတွင် ပီယာသည် ၎င်း၏ ခြေထောက်များကို စခန်းမီးပုံမှ မီးရောင်တွင် ကြည့်မိရာက ထိုခြေထောက် များ ဖြင့် လမ်းလျှောက်၍ မရနိုင်တော့ပြီဟု ထင်ခဲ့မိ၏။ သို့ ရာတွင် အချိန် ရောက်၍ ထွက်ခွာလာကြသောအခါ၌ကား ထော့နင်း ထော့နင်းဖြင့် လိုက်လာနိုင် ခဲ့လေသည်။ အတန် ငယ်လျှောက်မိသဖြင့် သွေးပူလာသည့်အခါတွင်မူ မည် သည့် ဝေဒနာကိုမျှ မခံစားရတော့သော်လည်း ညအချိန် ရောက်သည့်အခါတွင် ခြေထောက်များမှာ ကြည့်ရဲစရာ မရှိလောက်အောင် ဆိုးရွားလာခဲ့လေပြီ။ ပီယာ သည် ခြေ ထောက်များကို မကြည့်တော့ဘဲ အခြားကိစ္စများကိုသာ အာရုံပြု ထား လိုက်လေသည်။

ထိုအခါကျမှ လူ၏ အသက်ကလေးတစ်ချောင်း သည် မည်မျှခံနိုင်စွမ်းရှိပုံ၊ လူ၏စိတ်တန်ခိုးသည် အာရုံ ကို ပြောင်းအောင် မည်မျှစွမ်းဆောင်နိုင်စွမ်းရှိပုံတို့ကို ပီယာ သဘောပေါက်လာလေသည်။ ဒုက္ခကို ခံစားရချိန်၌ အာရုံ ကို တခြားသို့ ရောက်အောင် ပြောင်းနိုင်စွမ်းသော စိတ်၏ တန်ခိုးသတ္တိသည် ပေါင်းအိုးကြီးထဲရှိ ရေနွေးငွေ့တို့၏ တွန်းကန်မှု ပြင်းထန်လာသည်တွင် ပိုလျှံနေသော အခိုး အငွေ့ တို့ကို အပြင်သို့ ပျံ့လွင့်အောင် ဖွင့်ပေးသော အငွေ့ ထိန်းခလုတ်ကြီးနှင့် တူလှ ပါသည်။

ပြင်သစ်အာဏာပိုင်တို့သည် မလိုက်နိုင်သော သူ့ ပန်းများကို လမ်းတွင် ပစ် သတ်ခဲ့ကြ၏။ ဤသို့ဖြင့် လမ်း တွင် သုံ့ပန်းတစ်ရာကျော်တို့ သေဆုံးခဲ့ရပြီ ဖြစ်

သော် လည်း ပီယာသည် ထိုကိစ္စမျိုးကို ကြည့်လည်း မကြည့်၊ နားလည်းမထောင်ခဲ့ချေ။ တစ်နေ့ထက်တစ်နေ့ ခွန်အား ဆုတ်ယုတ်လျက် ရှိပြီဖြစ်သည့်အတွက် မကြာမီ ထိုလမ်း ကို သွားရတော့မည် ဖြစ်သော ကာရာတာယက်၏ အကြောင်းကိုလည်း တွေးတောခြင်း မပြုတော့ချေ။ မိမိ ၏ အကြောင်းကိုလည်း တွေးတောခြင်း မပြုတော့ချေ။ မိမိ၏အကြောင်းကိုကား ပို၍ပင် တွေးတောခြင်း မပြု တော့ချေ။ ပီယာ့အဖို့၌ကား အခြေအနေဆိုးရွားကာ မိမိ တို့၏ ရှေ့ရေးသည် ကြောက်စရာကောင်းလာသည်နှင့် အမျှ ထိုအကြောင်းကို စဉ်းစားခြင်း မပြုဘဲ ချုပ်တည်း နိုင်သမျှ ချုပ်တည်းလျက် ပျော်စရာ၊ စိတ်သက်သာစရာ အဖြစ်အပျက်များကိုသာ တွေးတောလျက် ရှိလေသတည်း။

# အခန်း ၁၃

အောက်တိုဘာ ၂၂-ရက်နေ့ မွန်းတည့်အချိန်၌ ပီယာ သည် မိမိ၏ ခြေထောက်များနှင့် လမ်းခရီးကြမ်းတမ်းပုံ ကို ကြည့်ရှုရင်း ရွှံ့ဖြင့် ချောလျက်ရှိသော တောင်ကုန်း ကလေးတစ်ခုပေါ်သို့ တက်လျက် ရှိ၏။ တစ်ခါတစ်ရံ၌ လည်း မိမိဘေးပတ်ဝန်းကျင်၌ မြင်နေကျဖြစ်သော ဘဝ တူရုရှားသုံ့ပန်းများနှင့် ပြင်သစ်အစောင့်တပ်သား လူအုပ် ကြီးကို လှမ်းကြည့်မိသည်။ ထိုမှတစ်ဖန် ခြေထောက်များ ကို ငုံ့ကြည့်မိပြန်သည်။ ယခုအချိန်၌ကား မြင်ဖန်များ သဖြင့် မိမိပတ်ဝန်းကျင်ရှိ လူအုပ်ကြီးသည် မိမိ၏ ခြေ ထောက်များကဲ့သို့ပင် ခန္ဓာကိုယ်၏ အစိတ်အပိုင်းတစ်ခု ဖြစ်လျက် ရှိသည်ဟု ပီယာထင်လျက် ရှိလေပြီ။ ခြေခွင် ခွင်၊ အမြီးပွပွ ‘နက်ကျော်”သည် လမ်းဘေးမှ ခုန်ပေါက် မြူးထူး၍ လိုက်ပါလာ၏။ တစ်ခါတစ်ရံတွင် ၎င်း၏ ဖျတ်လတ်လျင်မြန်ခြင်းနှင့် ဝမ်းမြောက်ခြင်းကို ဖော်ပြသည့်အလား နောက်ခြေတစ်ချောင်းကို မလျက် သုံးချောင်း ထောက်ဖြင့်

ခုန်ဆွခုန်ဆွ လုပ်၍ ပြေးရာက လေးချောင်းဖြင့် စုံချ၍ ပြေးပြန်ကာ မြင်းသေ ကောင်ပုပ်များ၊ လူသေကောင် ပုပ်များပေါ်တွင် နားနေသည့် ကျီးကန်းများကို ဟောင် လျက်ရှိ၏။ "နက်ကျော်မှာ မော်စကိုတွင် ရှိနေစဉ်ကထက် ဝဖီးလာကာ မြူးထူးလျက် ရှိလေသည်။ လမ်းဘေး တစ် ဖက်တစ်ချက်၌ကား လူသေကောင် ပုပ်မှသည် မြင်းသေ ကောင်ပုပ်အထိ သတ္တဝါအမျိုးမျိုး၏ အသေကောင်ပုပ် အမျိုး မျိုးသည် ပြန့်ကျဲလျက် ရှိ၏။ လူအုပ်များ ဖြတ် သန်းသွားလျက်ရှိခြင်းကြောင့် ဝံပုလွေများမှာ အနီးသို့ ရောက်လာခြင်း မပြုကြရကား 'နက်ကျော်'အဖို့ "ပွဲ တော် ကြီး'တွေ့လျက် ရှိလေသည်။

မိုးသည် နံနက်လင်းကတည်းက တဖွဲဖွဲ ရွာသွန်း လျက်ရှိ၍ တစ်ချက်တစ် ချက်တွင် တိတ်သွားကာ ကောင်း ကင်သည် ကြည်လင်စ ပြုလာ၏။ သို့ရာတွင် ခဏအကြာ တွင် အုံ့မှိုင်းလာပြန်လျက် မိုးသီးမိုးပေါက်များသည် သည်းထန်စွာ ကျ ရောက်လာကြပြန်သည်။ ထောင်ပေါင်း များစွာသော လူများ၊ မြင်းများ၊ လှည်းများ ဖြတ်သန်းသွား လာလျက် ရှိသဖြင့် မာကျစ်စပြုလာပြီဖြစ်သော မြေကြီး သည် မိုးရေကို စုပ်ယူနိုင်ခြင်း မရှိတော့ချေ။ မိုးရေများ သည် လှည်းဘီးရာများ တစ်လျှောက်တွင်သာ စီးဆင်း သွားကြလေသည်။

ပီယာသည် ဝဲယာကို လှမ်းကြည့်ကာ ခြေလှမ်း များကို သုံးလှမ်းတစ်ကြိမ် ကျ လက်ချောင်း အထပ်ထပ် ချိုး၍ ရေတွက်ရင်း လိုက်ပါလာခဲ့၏။ စိတ်ထဲက လည်း "ရွာကွ၊ ကြပ်ကြပ်ရွာ၊ ရွာချင်သလောက် ရွာလိုက်စမ်း ကွ'ဟု မိုးကို ကျိန်ဆဲ လျက် ရှိလေသည်။

ပီယာသည် မိမိဘာသာမိမိ မည်သည့်အရာကိုမျှ တွေးတောစဉ်းစားခြင်းမရှိ။ မိမိ၏ အဇ္ဈတ္တသန္တာန်အတွင်း ၌ အရေးကြီး၍ စိတ်၏ ကျေနပ်ခြင်းကို ရစေသော အရာ တစ်ခု ကိန်းဝပ်လျက် ရှိသည်ဟု ထင်၏။ ထိုအရာကား ယမန်နေ့က ကာရာ

တာယက်နှင့် စကားပြောခဲ့ကြရာမှ ၎င်း၏ ရင်ထဲတွင် ပေါ်ပေါက်လာသော နူးညံ့ သိမ်မွေ့ သည့် စိတ်တစ်မျိုးပေတည်း။

ယမန်နေ့ည စခန်းမျခဲ့ကြစဉ်က ပီယာသည် ငြိမ်း အံ့ဆဲဆဲ မီးပုံအနီးတွင် မီးလှုံနေရာမှ ခိုက်ခိုက်တုန် ချမ်းအေးစပြုလာသဖြင့် အရှိန်ကောင်းလျက် ရှိဆဲဖြစ်သော မီးပုံတစ်ခုအနီးသို့ ထလာခဲ့လေသည်။ မီးပုံအနီးတွင် ဝတ်ရုံအင်္ကျီကြီးကို ခေါင်းမှ သိုင်းခြုံ၍ ထိုင်ရင်း သုံ့ပန်း   များအား အဖြစ်အပျက်တစ်ခုကို ပြောပြလျက် ရှိသည့် ကာရာတာယက်ကို တွေ့ရလေသည်။ ကာရာတာယက် ၏အသံမှာ ခါတိုင်းကဲ့သို့ ကြည်လင်ဆဲဖြစ်သော်လည်း အနည်းငယ်ဖျော့တော့ အားနည်းလျက် ရှိခြင်းကို ပီယာ သတိပြုလိုက်မိသည်။ အချိန်မှာ သန်းခေါင်ကျော်ခဲ့လေ ပြီ။ ကာရာတာယက်သည် ထိုအချိန်များတွင် အဖျားကျ လျက် အထူးရွှင်လန်းနေ တတ်လေသည်။ ပီယာသည် မီးပုံအနီးသို့ ရောက်သွား၍ ဝေဒနာကြောင့် ဖျော့တော့ လျက်ရှိသော ကာရာတာယက်၏ အသံကို ကြားရလျက် ၎င်း၏ ဖြူဖျော့ နွမ်းနယ်သော မျက်နှာကို မီးရောင်အောက် တွင် မြင်ရသည့် တစ်ခဏ၌ နှလုံးသား ကို မီးဖြင့် မြိုက် ခြင်းခံရသကဲ့သို့ ပူလောင်သော ဝေဒနာကို ခံစားလိုက်ရ သည်။ ကြီးစွာသနားခြင်းဖြစ်၍ ပြင်းစွာ ထိတ်လန့်ခြင်း လည်း ဖြစ်ရ၏။ ပီယာသည် ထို နေရာမှ အမြန်ဆုံး ထ သွားလိုလှသော်လည်း အခြားမီးပုံမရှိတော့သဖြင့် ထိုနေရာ မှာပင် ဝင်ထိုင်လိုက်ရ၏။ ကာရာတာယက်ကို မကြည့် မိအောင်လည်း စိတ်ကို ကြိုးစားတင်းထားလိုက်သည်။

"ဘယ့်နှယ်နေသေးသလဲဗျို့" ပီယာက မေး၏။

"ဒီလိုပါပဲ ဆရာလေးရယ်။ မကျန်းမာခြင်းကို ညည်းတွားနေရင် ဘုရားသခင်က သေခွင့်မပေးဘူးတဲ့။ ဒီတော့ မြန်မြန်သေခွင့်ရအောင် မညည်းဘဲ

နေရတာ ပေါ့” ကာရာတာယက်က ပြောလိုက်ပြီးနောက် သုံ့ပန်း များဘက်သို့ လှည့်၍ ဇာတ်လမ်းကို ဆက်ပြောလျက် ရှိ သည်။ .

”ဒီလိုနဲ့ နေရောဆိုပါစို့” ကာရာတာယက်၏ ဖြူရော်ပိန်ချုံးသော မျက်နှာမှာ အထူးသဖြင့် ၎င်း၏ မျက်လုံးများထဲ၌ ကြည်လင်ရွှင်ပျခြင်း အရိပ်အယောင် များ ယှက်သန်းလာကြ၏။

ပီယာသည် ဤအဖြစ်အပျက်ကို အတန်ကြာက ပင်လျှင် ကြားခဲ့ဖူးပြီ ဖြစ်၏။ ကာရာတာယက်သည် ဤအဖြစ်အပျက်ကို ပီယာအား ခြောက်ကြိမ်ခန့် ထက် မနည်းပြောခဲ့ဖူးလေပြီ။ ပြောသည့်အခါတိုင်းလည်း ကာရာ တာယက်သည် ကြည်လင်ရွှင်ပျလျက် ရှိတတ်သည်။ ပီယာသည် ထိုအဖြစ်အပျက်ကို ကြားဖူးပြီ ဖြစ်သော် လည်း ယခုတစ်ဖန် ထပ်၍ နားထောင်မိပြန်၏။ ကာရာတာ ယက်၏ စိတ်၌ ဖြစ်ပေါ်လျက်ရှိသော ငြိမ်းချမ်းခြင်းသည်  ပီယာ၏ထံသို့ ကူးစက်လာသည် ဟု ထင်ရ၏။ ထိုအဖြစ် အပျက်မှာ အေးချမ်း၍ ရိုးသားစွာ နေထိုင်သော ကုန်သည် တစ်ဦးနှင့် ချမ်းသာသော ကုန်သည်တစ်ဦးတို့ နစ်ဇနီ ဈေးသို့ သွားကြသည့် အကြောင်း ဖြစ်လေသည်။

ကုန်သည်နှစ်ဦးတို့သည် ထမင်းဆိုင်တစ်ဆိုင်တွင် ၊ တည်းခို အိပ်စက်ကြ၏။ နောက်တစ်နေ့ နံနက်သို့ ရောက် လတ်သော် ချမ်းသာသောကုန်သည်မှာ လည်ပင်းပြတ်၍ သေဆုံးလျက် ရှိခြင်းကို တွေ့ရ၏။ ၎င်း၏ ပစ္စည်းများ လည်း မရှိ တော့ချေ။ ရိုးသားသော ကုန်သည်၏ ခေါင်း အုံးအောက်မှလည်း သွေးစွန်းလျက်ရှိ သော ဓားမြှောင်တစ် ချောင်းကို တွေ့ရသည်။ သို့ဖြင့် ရိုးသားသော ကုန်သည် ကို စစ်ဆေး၏။ နှာရောင်ကို ရိုက်ချိုး၏။ နှာခေါင်းပေါက် များကို လှီးပစ်ကြ၏။ ဤသို့ ဖြင့် (ကာရာတာယက်၏ အဆိုအရ) “ထုံးစံအတိုင်း” စစ်ဆေးပြီးသော် ဆိုက်ဗေးရီး ယားသို့ တစ်သက်တစ်ကျွန်း ပို့လိုက်လေသည်။

“ဒီလိုနဲ့ နေလာလိုက်တာ (ဤနေရာသို့ အရောက် တွင် ပီယာရောက်လာခြင်း ဖြစ်သည်။) ဆယ်နှစ်ကျော် လောက် ရှိသွားပြီဆိုပါစို့။ ကုန်သည်ခမျာလည်း ရာဇဝတ် ( အကျဉ်းသားများလို ́နေရရှာတာပေါ့။ သူ့စိတ်ထဲမှာ အိမ် ကိုလည်း မပြန်လိုတော့ဘူး။ မြန်မြန်သေပါစေလို့သာ ဘုရားသခင်ဆီ ဆုတောင်းနေမိသတဲ့။ ဒါနဲ့ တစ်ညကျ တော့ ခု ကျုပ်တို့ စကားပြောကြသလို အကျဉ်းသားတွေ စုပြီး စကားပြောမိကြသတဲ့။ ဒီလိုနဲ့ ကိုယ့်အဖြစ်အပျက်၊ ကိုယ်ကျူးလွန်ခဲ့တဲ့ အမှုတွေကို ပြန်ပြီးပြောကြတာပေါ့ လေ။ တစ်ယောက်က သူ လူတစ်ယောက်ကို သတ်ခဲ့ဖူးကြောင်း ပြောပြသတဲ့။ အခြားတစ်ယောက်ကတော့ လူ နှစ်ယောက်ကို သတ်ပြီး အိမ်တစ်ဆောင်ကို မီးရှို့ခဲ့ဖူး ကြောင်း ပြောပြသတဲ့။ အခြားတစ်ယောက်ကတော့ ဘာမှ ပြစ်မှုမကျူးလွန်ရဘဲ အလုပ်လက်မဲ့မို့လို့ အဖမ်းခံရ ကြောင်း ပြောပြသတဲ့။ ဒီလိုနဲ့ တစ်ယောက်ပြီး တစ် ယောက် ကိုယ့်အကြောင်းကိုယ် ပြောပြကြပြီးတဲ့နောက် ကုန်သည်အဘိုးကြီးကိုလည်း “ဘကြီး ဘာဖြစ်လို့ ထောင် ကျရတာလဲ”လို့ မေးကြသတဲ့။ ဒီတော့ ကုန်သည်အဘိုး ကြီးက “ငါကတော့ ငါ့အပြစ်နဲ့ အခြားလူတွေရဲ့ အပြစ် ကြောင့် ထောင်ကျရတာပါကွယ်။ ဒါပေမဲ့ ငါ့တစ်သက် မှာ သူတစ်ပါးအသက်ကိုလဲ မသတ်ခဲ့ဖူးဘူး။ သူတစ်ပါး ဥစ္စာကိုလဲ မယူခဲ့ဖူးပါဘူး။ ကုန်သည်ဆိုတော့ ပစ္စည်းရှိတဲ့ အလျောက် မရှိဆင်းရဲသားများကိုသာ ထောက်ပံ့ခဲ့ဖူးပါ တယ်”လို့ အစချီပြီး သူ့အဖြစ်အပျက်ကို ပြောပြသတဲ့။ “ငါ့အတွက်တော့ ငါ ဝမ်းမနည်းပါဘူးကွယ်။ ကလေး တွေနဲ့ ကလေးတွေရဲ့ အမေအိုကြီးကိုသာ သနားတာပါပဲ” လို့ ပြောပြီး အဘိုးကြီးက ငိုပါလေရောတဲ့။ အဲဒီအကျဉ်း သားတွေထဲမှာ ချမ်းသာတဲ့ ကုန်သည်ကို သတ်ပြီး ပစ္စည်း တွေ လုယူခဲ့တဲ့ အကျဉ်းသားလဲ ပါသတဲ့။ ဒီတော့ အဲဒီ အကျဉ်းသားက “နေစမ်းပါဦး ဘကြီး။ ဘကြီးတို့ကိစ္စ ဘယ်တုန်းက ဖြစ်တာလဲ”လို့ မေးတော့ အဘိုးကြီးကလဲ “ဒီနှစ် ဒီလမှာ ဖြစ်တယ်” . စသည်ဖြင့် ပြောပြသတဲ့။ ဒီ တွင် အကျဉ်းသားဟာ အကြီးအကျယ် ယူကျုံးမရဖြစ် ပြီး အဘိုးကြီးရဲ့ ခြေကို ဖက်တောင်းပန်တော့တာပဲ။ “ကျွန်တော့်

အတွက်ကြောင့် ဘကြီး အပြစ်ခံရတာပဲ” ဆို ပြီး ရှိခိုးသတဲ့။ ပြီးတော့လည်း အကျဉ်းသားတွေဘက် လှည့်ပြီး “ဟုတ်တယ် မိတ်ဆွေတို့ ဟောဒီဘကြီးဟာ အပြစ်မရှိဘဲနဲ့ ခံရတာပဲ။ ဒီအမှုကို ကျူးလွန်ခဲ့သူက တော့ ကျွန်တော်ပဲ။ ဘကြီး အိပ်ပျော်နေတုန်းမှာ ဓားကို ဘကြီးရဲ့ ခေါင်းအုံးအောက်မှာ ကျွန်တော် ထားခဲ့တာပဲ။ ကျွန်တော့်ကို ခွင့်လွှတ်ပါ ဘကြီး'လို့ တောင်းပန်သတဲ့”

ကာရာတာယက်သည် ရပ်၍ မီးတောက်များကို ပြုံး၍ ကြည့်ရာက ထင်းစများကို ထိုးနေသည်။

”

ဒီတော့ ကုန်သည်အဘိုးကြီးက “ဘုရားသခင် ဟာ ငါ့တူကို ခွင့်လွှတ်ပါလိမ့်မယ် ငါ့တူ။ ဘုရားသခင် ရဲ့ အလိုတော်အရဆိုရင် လူမှန်သမျှဟာ ဒုစရိုက်ကို ကျူးလွန်တဲ့လူတွေချည်းပါပဲ။ ဘကြီးမှာ ဒီအပြစ်မရှိသော် လည်း အခြားအပြစ်တွေ ရှိတာပါပဲ။ မထူးပါဘူး”လို့ ဆိုပြီး ငိုသတဲ့။ ကဲ နောက်ထပ် ဘယ်လိုဖြစ်တယ် ထင်သလဲ မိတ်ဆွေတို့”

ကာရာတာယက်က မေးလိုက်၏။ ဇာတ်လမ်း၏ အရေးကြီးဆုံးသော အစိတ်အပိုင်းကို ပြောရတော့မည့် အတွက် ကျေနပ်လျက် ရှိသကဲ့သို့ ၎င်း၏မျက်နှာသည် ပီတိလွှမ်းသောအပြုံးကို ဆောင်ကာ ပို၍ ဝင်းထိန်လာ၏။

“နောက်ထပ် ဘယ်လိုဖြစ်တယ် ထင်ကြသလဲ။ သိလား။ အဲဒီ လူသတ်သမားဟာ သူ့အပြစ်ကို အာဏာ ပိုင်တွေကို ဖွင့်ပြီး ဝန်ခံလိုက်သတဲ့။ လူသတ်မှုကိုက ခြောက်မှုလောက် ရှိတယ်ဆိုပဲ။ တကယ်ရက်စက်တဲ့လူပဲ ဒါ့။ လူသတ်သမားက “ကျွန်တော် သတ်တာပါ။ ကျွန် တော်ဘကြီးအတွက် စိတ်မကောင်းပါဘူး။ ကျွန်တော့် အတွက် ဘကြီးအပြစ်မခံပါစေနဲ့” ပြောသတဲ့။ အာဏာ ပိုင်တွေက

လည်း သူ့ဝန်ခံချက်ကို စာနဲ့ ရေးမှတ်ပြီး "ထုံးစံအတိုင်း' ဆိုင်ရာကို ပို့လိုက်သတဲ့။ တစ်ကျွန်းနဲ့ ရွှေမြို့တော်ဆိုတာကလဲ အဝေးသား မဟုတ်လား။ ဒီလို နဲ့ အာဏာပိုင်တွေဟာ ဒီစာကိုရတဲ့အခါကျတော့ "ထုံးစံ အတိုင်း" စုံစမ်းရာ၊ စစ်ဆေးရာက အထက်က အောက်ပို့၊ အောက်က အထက်ပြန်ပို့နဲ့ လုပ်နေလိုက်ကြတာ အချိန် တွေ ကုန်သွားရောဆိုပါတော့။ နောက်ဆုံးတော့ ဒီကိစ္စဟာ ဘုရင်မင်းမြတ်ရဲ့ ရွှေနားတော်ကို ရောက်သွားရောတဲ့။ အတန်ကြာတော့မှ ဘုရင်မင်းမြတ်က ကုန်သည်အဘိုး ကြီးကို လွတ်စေ၊ နှစ်နာကြေးကိုလည်း ပေးလျော်စေလို့ အမိန့်တော် ထုတ်ပြန်လိုက်သတဲ့။ ဒါနဲ့ အမိန့်စာတစ်ကျွန်း ကို ရောက်လာတဲ့အခါ ကျတော့ အာဏာပိုင်တွေကလည်း အဘိုးကြီးကို လိုက်ရှာကြတာပေါ့။ "ဟေ့ အပြစ်မရှိဘဲနဲ့ ပြစ်ဒဏ်ခံရတဲ့ ကုန်သည်အဘိုးကြီးကိုများ မတွေ့ကြဘူး လား။ ရွှေနန်းတော်ကြီးက လွတ်စေ အမိန့်လာတယ်ကွ" လို့ မေးပြီး ရှာသတဲ့"

ဤနေရာ၌ ကာရာတာယက်၏ နှုတ်ခမ်းများသည် တုန်စပြုလာ၏။

"ဒါပေမဲ့ အချည်းနှီးပါပဲ။ အဘိုးကြီးကို ဘုရား သခင်က ခွင့်လွှတ်လိုက်ပြီ။ အဘိုးကြီး မရှိရှာတော့ဘူး။ ဆုံးရှာပြီ။ အဖြစ်အပျက်ကတော့ ဒါပါပဲ မိတ်ဆွေတို့"

ကာရာတာယက်သည် ဇာတ်လမ်းကို အဆုံးသတ် လိုက်ပြီးသည့်နောက် ရှေ့တည့်တည့်သို့ ပြုံး၍ စိုက်ကြည့် ရင်း အချိန်အတော်ကြာမျှ မလှုပ်မယှက် ထိုင်လျက် ရှိ လေသည်။

ပီယာ၏ စိတ်သည် ထိုဇာတ်လမ်းကို နားထောင် ပြီးနောက် ကြည်နူးလျက်ရှိသည်။ ဇာတ်လမ်းကြောင့် ကြည်နူးခြင်းကား မဟုတ်ပါ။ ဇာတ်လမ်း၏ လှို့ဝှက်ဆန်းကြယ်ခြင်း၊ ဇာတ်လမ်းပြောပြသူ၏မျက်နှာမှာ ပီတိ လွှမ်းသော အပြုံးဖြင့် ထိန်လျက် ရှိခြင်း၊ ထိုပီတိ၏ လှို့ဝှက်ဆန်းကြယ်ခြင်းတို့ကြောင့်သာ ဖြစ်ပါသတည်း။

# အခန်း ၁၄

“ကိုယ့်နေရာ ကိုယ်နေကြ၊ ကိုယ့်နေရာ ကိုယ်နေကြ”ဟူ သော အသံတစ်သံ သည် ရုတ်တရက် ထွက်ပေါ်လာ၏။

အစောင့်တပ်သားများ၊ သံ့ပန်းများအကြား၌ လှုပ် လှုပ်ရှားရှား ဖြစ်လာကြ ပြန်သည်။ အမိန့်ပေးသံများသည် နေရာအနှံ့အပြားမှ ထွက်ပေါ်လာ၏။ စစ်ဝတ်စုံ များကို သပ်ရပ်စွာ ဝတ်ဆင်ထားသည့် မြင်းတပ်သားများသည် ချောမောလှပ သော မြင်းကြီးများကို စီးလျက် သံ့ပန်းများ ၏အနီးမှ ဖြတ်သွားကြ၏။ ၎င်းတို့ အားလုံး၏ မျက်နှာမှာ အထက်အာဏာပိုင်များ ရောက်လာခါနီး၌ ဖြစ်ပေါ်လေ့ရှိ သော ထုံးစံအတိုင်း တင်းမာသည့်အသွင်မျိုးကို ဆောင် လျက် ရှိကြသည်။ သံ့ပန်း များကို တစ်စုတည်းနေစေပြီး နောက် လမ်းဘေးသို့ ဆင်းနေစေ၏။ လမ်းတစ်ဖက် တစ်ချက်၌လည်း အစောင့်များ စောင့်လျက် ရှိလေသည်။

“ဘုရင်မင်းမြတ် ကြွတော်မူလာတယ်။ ရှောင် ကြ၊ ရှားကြ၊ စစ်သူကြီးလဲ ပါ တယ်၊ မြို့စားကြီးလဲ ပါ တယ်” ဟူသော အသံများ နှင့်တကွ ချောမွေ့သော မြင်း များကို စီးလာသည့် ကိုယ်ရံတော်တပ်သားများ ဖြတ်သွားပြီးနောက် မကြာမီမှာပင် ဖောင်းဝတ်ရောင် မြင်းခြောက်ကောင်က ရထားကြီးတစ်စီး မောင်းနှင်လာ လေ သည်။ ကရထားပေါ်၌ သုံးထောင့်ဦးထုပ်ချွန်ကို ဆောင်းထားသည့် လူတစ် ယောက်ကို ပီယာမြင်လိုက် ရ၏။ ထိုသူမှာ ခန့်ညားချောမောသလောက် ၎င်း၏မျက်နှာ မှာ ဖြူဖွေးနုနယ်၍ တည်ကြည်ငြိမ်သက်သော အသွင်ကို ဆောင် လျက်ရှိ၏။ ထိုလူသည် သံ့ပန်းထဲတွင် ထင်းထင်း ကြီးပေါ်လျက်ရှိသော ပီယာ၏ ကြီးမားတုတ်ခိုင်သည့် ခန္ဓာကိုယ်ကြီးကို စိုက်ကြည့်နေပြီးမှ မျက်မှောင်ကုတ်၍ တစ်ဖက်သို့ လှည့်သွား၏။ ထိုမျက်နှာထား၌ တစ်ဖက် သားကို သနားကြင်နာဟန်

ရှိသော်လည်း ထိုသို့ သနား ကြင်နာခြင်းကို ဖုံးကွယ်လိုသည့် အမူအရာမျိုးရှိသည် ဟု ပီယာ ထင်လိုက်မိသည်။

ထိုကရထား၏နောက်၌ ရိက္ခာပစ္စည်းများကို ကွပ်ကဲ အုပ်ချုပ်လာသည့် ဗိုလ်ချုပ်တစ်ဦး လိုက်ပါလာ၏။

ကြောက်လန့်ခြင်းကြောင့် မျက်နှာတစ်ခုလုံး နီမြန်းလျက် ရှိသော ထို ဗိုလ်ချုပ်သည် အရိုးပေါ်အရေတင်လျက် ရှိသည့် မြင်း ကလေးကို ကြာပွတ်ဖြင့် တရွှမ်းရွှမ်း ရိုက်လျက်ရှိ၏။ ၊ တပ်ဗိုလ်များသည် ဝိုင်းအုံကာ အချင်းချင်းပြောဆို ကျန် ရစ်ခဲ့ကြသည်တွင် တပ်သားများကလည်း ၎င်းတို့၏ဘေး မှ စုပြုံနားထောင် လျက် ရှိကြသည်။ ၎င်းတို့အားလုံး၏ မျက်နှာများကား စိုးရိမ်ချောက်ချားသည့် အသွင်ကို ဆောင် နေကြ၏။

“ဘုရင်မင်းမြတ်က ဘာများ မိန့်တော်မူသွား သေးသလဲ။ ဘာများ မိန့်တော် မူသွားသလဲ” ၎င်းတို့သည် အချင်းချင်း မေးမြန်းလျက် ရှိကြ၏။

စစ်သူကြီး၏ ကရထားဖြတ်သွားသည့်အခါ၌မူ သံ့ပန်းများသည် တပ်သား အုပ်ကြီးထဲတွင် ထိုင်နေရ၏။ ပီယာသည် ထိုနေ့တစ်မနက်လုံး ကာရာတာယက် ကို မမြင်ဘဲရှိခဲ့ရာ ယခုမှ မြင်ရခြင်း ဖြစ်လေသည်။ ကာရာတာ ယက်သည် ဝတ်ရုံ အင်္ကျီကို ခြုံလျက် သစ်ပင်တစ်ပင်ကို မှီ၍ ထိုင်လျက်ရှိလေသည်။ ၎င်း၏မျက်နှာ သည် ယမန် နေ့က ကုန်သည်၏ ဇာတ်လမ်းကို ပြောပြစဉ်ကကဲ့သို့ ပီတိလွှမ်း သော အသွင်ကို ဆောင်လျက်ရှိသော်လည်း ယနေ့မူ ထိုအသွင်မျှသာမကတော့ဘဲ လေးနက်တည်ငြိမ် သောသဏ္ဌာန်ကိုပါ ဆောင်လျက်ရှိခြင်းကို တွေ့ရ၏။

ကာရာတာယက်သည် တစ်ဖက်သားကို ကြင်နာ တတ်သော မျက်လုံးဝိုင်း ကြီးများဖြင့် ပီယာကို ကြည့် လျက်ရှိ၏။ ၎င်း၏မျက်လုံးများတွင် မျက်ရည်တွေ ဝဲ

လျက် ရှိလေသည်။ ၎င်း၏ အမူအရာမှာ ပီယာကို တစ်စုံတစ်ရာ ပြောလို သည့်အတွက် အနီးသို့ လာစေချင်ဟန်ရှိ၏။ သို့ ရာတွင် ပီယာသည် ကာရာတာ ယက်၏ သဘောကို အကဲခတ်၍ မရသဖြင့် မမြင်ဟန်ပြုကာ လှည့်ထွက်လာ ခဲ့ လေသည်။

သုံ့ပန်းများ ဆက်၍ ထွက်ခွာလာသောအခါ၌ ပီယာသည် လှည့်၍ ကြည့်မိ ပြန်သည်။ ကာရာတာယက် သည် လမ်းဘေးသစ်ပင်အောက်တွင် ထိုင်လျက်ပင် ရှိ၍ ၎င်း၏အနီး၌ ပြင်သစ်တပ်သားနှစ်ဦး ထိုင်လျက် စကား ပြောနေကြသည်။ ပီ ယာသည် လှည့်၍ မကြည့်တော့ဘဲ ထော့နင်း ထော့နင်းဖြင့် ကုန်းမြင့်ကလေးပေါ် သို့ တက်လာ ခဲ့လေသည်။

ခဏကြာသောအခါတွင် ကာရာတာယက် ကျန် ရစ်ခဲ့သော သစ်ပင်ခြေရင်း ဆီမှ သေနတ်သံတစ်ချက်  ထွက်ပေါ်လာလေသည်။ ပီယာသည် ထိုသေနတ်သံကို သေချာစွာကြားလိုက်ရ၏။ သို့ရာတွင် ထိုအချိန်၌ ပီယာ မှာ စမိုးလင့်သို့အရောက် စခန်းမည်မျှ သွားရဦးမည်ကို ရေတွက်၍ မပြီးသေးကြောင်း အမှတ်ရလာသဖြင့် လက် ချိုး၍ ဆက်လက်ရေတွက်လျက် ရှိပေသည်။ ပြင်သစ်တပ် သားနှစ်ယောက် သည် ပီယာအနီးမှ ဖြတ်၍ ရှေ့သို့ ပြေး သွားကြ၏။ တပ်သားတစ် ယောက်၏လက်၌ ယမ်းငွေ့ တလူလူထွက်လျက် ရှိသော သေနတ်တစ်လက်ကို အောက် သို့ စိုက်၍ ကိုင်ထားလေသည်။ ၎င်းတို့နှစ်ဦးစလုံး၏ မျက်နှာများသည် ဖြူရော်လျက် ရှိကြ၏။ တပ်သားတစ် ယောက်သည် ပီယာကို မလုံမလဲ မျက်နှာထားဖြင့် ကြည့် သွားသည်တွင် ထိုမျက်နှာပေါ်၌ လူသတ်ကုန်းတွင် ပီယာ မြင်ခဲ့ဖူးသော ပြင်သစ်တပ်သားလေး၏ မျက်နှာထားကဲ့သို့ တုန်လှုပ်ချောက်ချား လျက် ရှိခြင်းကို ပီယာ တွေ့လိုက်ရ သည်။ ပီယာသည် ထိုတပ်သားကို လှမ်းကြည့် လိုက်ရာမှ ထိုတပ်သားမှာ လွန်ခဲ့သော နှစ်ရက်ခန့်က အင်္ကျီကို မီး ကင်ရာ၌

မီးလောင်သွားခြင်းကြောင့် ဝိုင်း၍ အရယ်ခံရ သော တပ်သားဖြစ်ကြောင်းကို သတိပြုမိလေသည်။

ကာရာတာယက် နေရစ်ခဲ့သော သစ်ပင်ခြေရင်းမှ ခွေးကလေး 'နက် ကျော်သည် ရှည်လျားစွာ အူလျက်ရှိ သည်။ "ဒီခွေးနှယ် ဘာကြောင့်များ အူနေရ တာလဲ"ဟု ပီယာ တွေးလိုက်မိသည်။

ပ်ယာကဲ့သို့ပင် အခြားသော သုံ့ပန်းများသည် လည်း သေနတ်သံ ထွက် ပေါ်လာရာ ခွေးအူသံ ထွက်ပေါ် လာရာသို့ မကြည့်ကြဘဲ မျက်နှာလွှဲသွားကြ သည်။ သို့ရာ တွင် ၎င်းတို့၏ မျက်နှာထားများကား တင်းမာလျက် ရှိ ပေသတည်း။

# အခန်း ၁၅

ရိက္ခာတင်လှည်းများ၊ သုံ့ပန်းများနှင့် ပြင်သစ်စစ်သူကြီး ၏ ဝန်တင်လှည်း တန်းကြီးသည် ရှမ်ရှီဗိုရွာတွင် စခန်းချ ကြ၏။ တပ်သားများနှင့် သုံ့ပန်းများသည် စခန်းမီးပုံများ အနီး၌ ဝိုင်းအုံလျက် ရှိကြလေသည်။ ပီယာသည် မီးပုံ အနီးသို့ သွား ကာ မြင်းသားကင်ကို စားပြီးနောက် မီးပုံ ကို ကျောပေး၍ လှဲချလိုက်ရာ မကြာမီ အိပ်ပျော်သွား  လေသည်။ ယခုအခါ အိပ်ရခြင်းမှာ ဘိုရိုဒီနိုတိုက်ပွဲပြီး သည့်နောက် ဆိုဖာမွေ့ရာတွင် အိပ်ရခြင်းကဲ့သို့ နှစ်နှစ် ခြိုက်ခြိုက် ရှိလှပေ၏။

ဤအကြိမ် အိပ်ပျော်ရာ၌လည်း မိုဇာဟေ့မှာတုန်း "ကကဲ့သို့ပင် တကယ့် အဖြစ်လိုလို၊ အိပ်မက်လိုလို အရာ များကို မြင်မက်လေသည်။ အတွေးများသည် ပေါ်လာ ကြ၏။ ထိုအတွေးများမှာ ၎င်း၏ အတွေးများလိုလို၊ အခြားလူတစ် ယောက်၏ အတွေးများလိုလိုလည်းထင် ရ၏။ ထူးဆန်းသည့်အချက်မှာ ထို

အတွေးများသည် မိုဇာဟော့တွင် အိပ်ပျော်စဉ်က အိပ်မက်ထဲတွင် ပေါ်လာ သော အတွေးများပင် ဖြစ်နေခြင်း ဖြစ်လေသည်။

"အရာရာသည် ဘဝဖြစ်၏။ ဘဝသည် ဘုရား သခင်ဖြစ်၏။ အရာတိုင်း သည် ပြောင်းလဲကြ၏။ လှုပ် ရှားကြ၏။ ထိုပြောင်းလဲလှုပ်ရှားခြင်းသည် ဘုရားသခင် ဖြစ်၏။ ဘဝဟူ၍ ရှိနေသမျှ ဘုရားသခင်၏ မြင့်မြတ် ခြင်းကို အောက်မေ့ပူဇော်ရခြင်းသည် စိတ်ချမ်းမြေ့ဖွယ် ကောင်းလှ၏။ ဘဝကို ချစ်ခင်ခြင်း သည် ဘုရားသခင် ကို ချစ်ခင်ခြင်းမည်၏။ မိမိခံစားရသော ကာယိကဒုက္ခ၊ စေတ သိကဒုက္ခတို့ကို ချစ်ခင်ခြင်းလောက် အခက်ခဲဆုံး သော၊ အမြင့်မြတ်ဆုံးသော အရာသည် လောက၌ မရှိ"

ဤစကားများကို ကြားယောင်ပြီးနောက် ပီယာ သည် ကာရာတာယက်ကို မြင်ယောင်၏။

ထိုအခိုက် ဆွစ်ဇာလန်ပြည်တွင်နေစဉ်က မိမိအား ပထဝီသင်ခန်းစာများကို သင်ကြားပေးသည့် ကြင်နာ တတ်သော ဆရာအိုကြီးကို မြင်မက်ပြန်၏။ ထိုဆရာ အို ကြီးက ကမ္ဘာလုံးတစ်လုံးကို ပြ၏။ ထိုကမ္ဘာလုံးကြီးမှာ လည်ပတ်နေသော ကမ္ဘာလုံးကြီး ဖြစ်လေသည်။ ထို ကမ္ဘာလုံးကြီးပေါ်၌ အစက်အပြောက်ကလေး များ ပြည့် နှက်လျက် ရှိ၏။ ထိုအစက်အပြောက်ကလေးများသည် လှုပ်ရှားနေကြ ကာ တစ်ခါတစ်ရံ နေရာရွေ့သွားကြ၏။ တစ်ခါတစ်ရံ၌ ထိုအစက်အပြောက် ကလေးများသည် တစ်စုတည်း စုဝေးကာ ကြီးမားသော အစက်အပြောက်ကြီး တစ်ခုဖြစ်လာပြီး တစ်ခါတစ်ရံ၌ မရေမတွက်နိုင်သော အစက်အပြောက်ကလေး များအဖြစ် လွင့်စဉ်သွား ကြပြန်၏။ တစ်ခါတစ်ရံ၌ အစက်အပြောက်များသည် ကြီးမားပြန့်ကား၍ လာကြကာ တစ်ခုနှင့်တစ်ခု နေရာလု၍ နေကြ၏။ ဤသို့ ပြန့် ကားရာမှ တစ်ဖန် အချို့အစက် အပြောက်များသည် ပေါင်းသွားကြကာ အချို့

အစက် အပြောက်များသည် ကြီးမားသော အစက်အပြောက်ကြီး များထဲတွင် ပျောက်ကွယ်သွားကြသည်။

"ဘဝဆိုတာ အဲဒါပဲ"လို့ ဆရာအိုကြီးက ဆို၏။

"အလို လက်စသတ်တော့ ဘဝဆိုတာ လွယ်လွယ် ရှင်းရှင်းကလေးပါလား။ အစက ဒီလောက် လွယ်မှန်းမသိ ခဲ့ဘူး' ပီယာ တွေး၏။

"ဘုရားသခင်ဟာ အဲဒီအစက်အပြောက်ကလေး များရဲ့ ဗဟိုချက်မပဲ။ ဒီ အစက်အပြောက်ကလေးများဟာ ဘုရားသခင်ရဲ့ အလိုတော်အတိုင်း ဆောင်ရွက်ဖို့အတွက် တစ်ခုထက်တစ်ခု ကြီးအောင်၊ ပြန့်ကားလာအောင် ရုန်း ကန်နေကြတယ်။ ဒီလို ရုန်းကန်ရင်းနဲ့ တချို့အစက် အပြောက်ကလေးများဟာ ကြီးထွားလာကြတယ်။ တချို့ ကတော့ တစ်ခုနဲ့တစ်ခု ပေါင်းသွားကြတယ်။ တချို့က တော့ ပျောက်ကွယ်သွားကြတယ်။ တချို့က နစ်သွားပြီး တစ်ဖန် ပြန်ပေါ်လာကြတယ်။ ဟော ခု ကြည့်စမ်း၊ ကာရာတာယက်ဆိုတဲ့ အစက်အပြောက်ကလေးဟာ ပေါ်လာပြီး ပျောက်သွားပြန်ပြီ။ ဘယ့်နှယ်လဲ ကလေး။ နား လည်ရဲ့ မဟုတ်လား။ နား မလည်ဘူးလား ဟင်"

ဆရာအိုကြီးက ကြင်နာစွာ ဆို၏။

"ဟော့၊ နားမလည်ဘူးလားကွ။ ဟင် ခွေးမသား" အသံတစ်သံက အော်လိုက်သဖြင့် ပီယာသည် လန့်နိုး လာလေသည်။

ပီယာသည် ခေါင်းထူ၍ ထထိုင်လိုက်သည်။ ပြင်သစ်တပ်သားတစ်ယောက်သည် ရုရှားသို့ပန်းတစ် ယောက်ကို ဘေးသို့ တွန်းထုတ်၍ မီးပုံဘေးတွင် ဝင်ထိုင်လိုက်ပြီးနောက် သေနတ်ယမ်းထိုးတံကို တံစို့သဖွယ်ပြု လျက် မြင်းသားတုံးများကို ကင်နေသည်။ အကျီလက် များကို ပင့်တင်ထားခြင်းကြောင့် အရိုးပြိုင်းပြိုင်း

အမွေး ထူထူနှင့် နီရဲသော လက်မောင်းကို မြင်ရ၏။ ထိုတပ် သားသည် ၎င်း၏ ပုတိုသော လက်ချောင်းကလေးများကို တရွရွလှုပ်၍ သေနတ်ယမ်းထိုးတံကို လှည့်ပေးနေသည်။ ညိုမည်း၍ မျက်မှောင်ကြီးကုတ်ထားသဖြင့် တင်းမာလျက် ရှိသော မျက်နှာကို မီးကျီးခဲရဲရဲမှ အရောင်ဖြင့် မြင်ရ၏။

"ခွေးသားတွေ၊ ပြောရင် ထုံပေပေနဲ့။ ဒီလိုချည်း ပဲ။ ဟေ့ သူခိုး၊ သွား၊ အနားမလာနဲ့"

တပ်သားသည် နောက်မှရပ်နေသော သုံ့ပန်းတစ် ယောက်ကို မောင်းထုတ် နေပြန်သည်။

ပြင်သစ်တပ်သားသည် သေနတ်ယမ်းထိုးတံကို လှည့်ရင်း ပီယာကို သုန်မှုန် သော မျက်နှာဖြင့် ကြည့်၏။ ပီယာသည် တစ်ဖက်သို့ လှည့်ကာ အမှောင်ထဲသို့ ငေး ကြည့်နေသည်။ ပြင်သစ်တပ်သား၏ မောင်းထုတ်ခြင်းခံရ သော ရုရှားသုံ့ပန်း သည် မီးဖိုအနီးတွင် ထိုင်ရင်း တစ်စုံ တစ်ရာကို လက်ဖြင့် ပွတ်သပ်ပေးလျက် ရှိ၏။ ပီယာသည် ထိုအရာကို သေချာစွာ ကြည့်လိုက်၏။ သုံ့ပန်းအနီးတွင်ရှိ သည့် အရာကား အမြီးနှံ့လျက်ရှိသော "နက်ကျော်" ပေ တည်း။

"ဟေ 'နက်ကျော်"ပါလား။ ကာရာ-" ပီယာ သည် စကားကို အဆုံးမသတ် ဘဲ ရပ်ထားလိုက်၏။

ပီယာ၏ မျက်စိထဲ၌ ရုပ်ပုံကားချပ်များစွာတို့သည် ဝဲလှည့်၍ ပေါ်လာကြ လေသည်။ သစ်ပင်ခြေရင်းတွင် ထိုင်ရင်း မိမိအား ငေးကြည့်နေသော ကာရာတာ ယက်၏ မျက်နှာ၊ ထိုနေရာမှ ပေါ်ထွက်လာသည့် သေနတ်သံ။ ခွေးအူသံ၊ ပြင်သစ် တပ်သားနှစ်ဦး၏ မလုံမလဲဖြစ်လျက် ရှိသော မျက်နှာထားများ၊ မီးခိုးတလူ လူထွက်ကာ အောက် စိုက်နေသော သေနတ်၊ ကာရာတာယက်တစ်ယောက် ယခု စခန်းတွင် မပါတော့သည့်အဖြစ်။ ပီယာသည် ဤ အဖြစ်တို့ကို မြင်ယောင်၏။

ကြားယောင်၏။ ကာရာတာ ယက်တစ်ယောက် အသတ်ခံရလေပြီဟု ဆက်၍ စဉ်းစား မည်အပြုတွင် ပီယာ၏စိတ်သည် ကိဗ်မြို့တွင် ရှိစဉ် နွေ ရာသီ ညနေခင်း တစ်ခု၌ မိမိ၏စံအိမ်တွင် ပိုလန်သူအမျိုး သမီးချောတစ်ဦးနှင့် တွေ့ခဲ့ကြပုံကို အမှတ်ရလာ၏။ ကာရာတာယက်သေသည့်အကြောင်းကို တွေးမည့်ဆဲဆဲ ဆက်စပ်ခြင်းမရှိဘဲ ထိုကိစ္စကို အမှတ်ရလာ၏။ ဤသို့ အဆက်အစပ်မရှိသော အကြောင်းကို မည်သည့်အတွက် ကြောင့် အမှတ်ရလာသနည်းဟုလည်း ပီယာ မ သိချေ။ ပီယာသည် မျက်လုံးများကိုမှိတ်လျက် နွေရာသီတွင် ကျေး လက်၌ အေးချမ်းစွာ နေခဲ့ရပုံ၊ ရေချိုးခဲ့ရပုံ၊ ကမ္ဘာလုံးကြီးကို ကြည့်၍ စာသင်ခဲ့ရပုံတို့ကို အမှတ်ရလာကာ ကြည်နူးစရာ များကိုသာ ရွေးချယ်တွေးတောလျက် ရှိလေသည်။

အရုဏ်တက် အချိန်လောက်၌ အော်ဟစ်သံများ၊ သေနတ်သံများကြောင့် ပီယာသည် အိပ်ရာမှ လန့်နိုးလာ ၏။ ပြင်သစ်တပ်သားများ ဥဒဟို ပြေးလွှားလျက် ရှိလေ သည်။

"ကော့ဆက်မြင်းတပ်တွေဟေး၊ ကော့ဆက်မြင်း တပ်တွေ" ပြင်သစ်တပ်သားတစ်ယောက်၏ အော်သံကို ကြားရပြီးနောက် ခဏမျှအကြာတွင် မိမိဘေး တွင် ရုရှား များ ဝိုင်းအုံလျက်ရှိခြင်းကို တွေ့ရ၏။

ပီယာသည် အခြေအနေကို နားမလည်နိုင်အောင် ဖြစ်နေသည်။ ၎င်း၏ သုံ့ပန်းရဲဘော်များသည် ဝမ်းသာလွန်း သဖြင့် ငိုကြွေးလျက် ရှိကြသည်။

"ရဲဘော်တို့ လာပေလို့။ ရဲဘော်တို့ လာပေလို့"

" သုံ့ပန်းများသည် ကော့ဆက်မြင်းတပ်သားများကို ပွေ့ ဖက်လျက် ငိုနေကြသည်။

မြင်းတပ်များနှင့် ကော့ဆက်တပ်သားများသည် သံ့ပန်းများအနီးတွင် ဝိုင်းအုံလျက် ရှိကြ၏။ အချို့က အဝတ်အထည်များ၊ ဖိနပ်များ၊ ပေါင်မုန့်များကို ပေးကြ၏။ ပီယာသည် ၎င်းတို့ကြားထဲတွင် ထိုင်ရင်း ငိုရှိုက် နေမိသည်။ စကားတစ်ခွန်းမျှ မပြောနိုင်တော့ချေ။ ပီယာ သည် မိမိအနီးသို့ ရောက်လာသော ရုရှားတပ်သားကို ပွေ့ဖက်၍ ငိုနေမိလေသည်။

ဒိုလိုကော့ဗ်သည် ပျက်စီးပြိုကျနေသော မြေပိုင် ရှင်၏ အိမ်ဝင်းဝတွင် ရပ်လျက် လက်နက်ချသောပြင်သစ် တပ်သားများကို စစ်ဆေးလျက်ရှိသည်။ ပြင်သစ်များသည် အငိုက်တွင် ခံလိုက်ရခြင်းကြောင့် ဆူညံစွာ စကားပြော လျက်ရှိကြရာက ဒိုလိုကော့ဗ်၏ ရှေ့သို့ရောက်သောအခါ မီးကို ရေနှင့် သတ်လိုက်ဘိသကဲ့သို့ ငြိမ်သက်သွားကြ ၏။ ဒိုလိုကော့ဗ်သည် ဖိနပ်များကို ကြာပွတ်ဖြင့် တဖျပ် ဖျပ်ရိုက်၍ အေးစက်စူးရှသော မျက်လုံးများဖြင့် စိုက်ကြည့် လျက်ရှိ၏။ ထိုမျက်လုံးများကား ပြင်သစ်တို့အဖို့ မကောင်း ဆိုးရွား နိမိတ်ပေတည်း။ ဒိုလိုကော့ဗ်နှင့် မျက်နှာချင်းဆိုင် ၌ ကော့ဆက်မြင်းတပ်သားတစ်ယောက်သည် ပြင်သစ် သံ့ပန်းများကို ရေတွက်လျက် ရှိပြီး တစ်ရာပြည့်တိုင်း ပြည့်တိုင်း ဝင်းတံခါးဝတွင် မြေဖြူဖြင့် အချောင်း တစ် ချောင်း ခြစ်လျက် ရှိ၏။

“ဘယ်လောက်ရှိသွားပလဲ ဟေ့” ဒိုလိုကော့ဗ်က မေးသည်။

”နှစ်ရာရှိပြီး ဗိုလ်မှူး” ကော့ဆက်မြင်းတပ်သား က ဖြေသည်။

“သွား၊ သွား ဘာရပ်နေတာလဲ” ဒိုလိုကော့ဗ် က အော်လိုက်၏။ ၎င်းမျက်လုံးများသည် သံ့ပန်းများနှင့် မျက်လုံးချင်းဆိုင်မိသည်နှင့် တစ်ပြိုင်နက် ရက်စက်ကြမ်းကြုတ်သော အရောင်ဖြင့် တဖျတ်ဖျတ် တောက်လာကြ သည်။

ကော့ဆက်မြင်းတပ်သားများသည် ပီတာ၏ အလောင်းကို ခြံထဲရှိ ကျင်း တစ်ကျင်းဆီသို့ မ လာကြလေ ရာ ၎င်းတို့၏နောက်၌ ဒင်နီဆော့ဗ်သည် ခေါင်း

တွင် ဦးထုပ်မပါ မသာယာသော မျက်နှာဖြင့် လိုက်ပါလာလေ သည်။

# အခန်း ၁၆

အောက်တိုဘာလ ၂၈-ရက် နှင်းပွင့်တို့ ပထမဆုံးကျသည့် နေ့၌ကား ပြင်သစ်စစ်တပ်ကြီး ဆုတ်ခွာထွက်ပြေးမှုသည် ပိုမိုဝမ်းနည်းကြေကွဲဖွယ်ကောင်းသည့် အသွင်သဏ္ဌာန်ကို ဆောင်လာခဲ့လေပြီ။ တပ်သားများ သွေးခဲလျက်၊ စခန်းမီး ပုံများတွင် မီးလှုံရင်း အရှင်လိုက် မီးကင်ပြီးသားဖြစ်လျက် ရှိချိန်တွင် သားမွေးဝတ်ရုံ အင်္ကျီကြီးများကို ဝတ်ဆင်ထား သူပုဂ္ဂိုလ်ကြီးများ၊ ကေရာဇ်ဘုရင် နပိုလီယန်နှင့် တကွ ဘုရင်ငယ်များ၊ နယ်စားများ ခိုးဝှက်လုယူခဲ့ကြသော ပစ္စည်းများကို တင်ဆောင်လာသည့် ကရထားကြီးများ ( သည် ဆက်လက်ဖြတ်သန်းသွားလျက် ရှိလေသည်။ သို့ ရာတွင် ပြင်သစ်တို့၏ ထွက်ပြေးခြင်းနှင့် ပြိုကွဲပျက်စီးခြင်း ဖြစ်စဉ်ကြီးကား ယခင်ကကဲ့သို့ပင် အခြေခံကျကျ ဖြစ် ပေါ်လျက် ရှိလေသည်။

မော်စကိုမှ ဗျာဇမာအထိဖြစ်သော စစ်ဆုတ်လမ်း တစ်လျှောက်၌ စစ်သည် ခုနှစ်သောင်း သုံးထောင်မျှရှိ သော ပြင်သစ်စစ်တပ်ကြီး၌ (ထိုအထဲတွင် စစ်ပွဲတစ်လျှောက်လုံး၌ လုယက်တိုက်ခိုက်ခြင်းမှအပ အခြား ဘာမှ မလုပ်ခဲ့သည့် ကိုယ်ရံတော်တပ်များကို ထည့်သွင်းရေတွက် ခြင်း မပြုသေးပါ။) သုံးသောင်းခြောက်ထောင်မျှသာ ကျန်ခဲ့လေပြီ။ (၎င်းတို့အနက် တိုက်ပွဲတွင် ကျသူမှာ ငါးထောင်ထက် မပိုပါ။) ထိုအချိန်မှစ၍ ပြင်သစ်စစ်တပ် ကြီး၏ ပြိုကွဲပျက်စီးမှု အရေအတွက်သည် သင်္ချာနှုန်းအရ တိုး၍ လာခဲ့လေသည်။ မော်စကိုမှ ဗျာဇမာ၊ ဗျာဇမာမှ စမိုးလင့်၊ စမိုးလင့်မှ ဘီရဲဇီနာ၊ ဘီရဲဇီနာမှ ဗီလနာ စသည့် စခန်း အသီးသီးကြား၌ ရာသီဥတုအေးခြင်း၊ ရုရှားတို့က လိုက်လံ တိုက်ခိုက်ခြင်း၊ လမ်းမှ ပိတ်ဆို့ ခြင်း စသည့် အရာများ မပါဘဲနှင့်လည်း ပြင်သစ်စစ်တပ် ကြီးသည် ထို

နှုန်းထားအတိုင်း ပြိုကွဲပျက်စီးခဲ့ရလေသည်။ ဗျာဇမာကို လွန်သောအခါ၌ ပြင်သစ် စစ်တပ်ကြီးသည် စစ်ကြောင်းသုံးကြောင်း ဖြန့်၍ လှုပ်ရှားခြင်းမပြုတော့ ဘဲ ထု ကြီးအဖြစ် ဆုတ်ခွာလာခဲ့ကြရာ အဆုံးသို့ ရောက် သည်အထိ ဖြစ်လေသည်။ ပြင် သစ်စစ်သူကြီး ဘားသီး ယားက ၎င်း၏ စစ်တပ်ကြီးအတွင်း၌ အခြေအနေနှင့် စပ်လျဉ်း၍ ကေရာဇ်ဘုရင်နပိုလီယန်ထံ အောက်ပါအတိုင်း အစီရင်ခံခဲ့လေသည်။ (စစ်တပ်တစ်တပ်၏ အခြေအနေ ကို အစီရင်ခံရာ၌ တပ်မှူးများသည် ကိုယ်ကနိုင် နေလျှင် "သာသာထိုးထိုး' အစီရင်ခံတတ်၍ ကိုယ်ကရှုံးလျှင် "လျှော့လျှော့ပေါ့ပေါ့" အစီရင်ခံတတ်ကြောင်းကိုကား ကျွန်ုပ်တို့အားလုံး သိပြီးဖြစ် ပါသည်။)

"လွန်ခဲ့သည့်နှစ်ရက်၊ သုံးရက်အတွင်း ဆုတ်ခွာ မှုအဆင့်အသီးသီးတွင် ကျွန်တော် ကြုံတွေ့ခွင့်ရ ခဲ့သော တပ်ဖွဲ့ အမျိုးမျိုး၏ အခြေအနေကို ဘုန်း တော် ကြီးသော ဘုရားထံ အစီရင်ခံရန်မှာ ကျွန် တော်၏ တာဝန်ဟု ယူဆပါသည်။ ကျွန်တော် တွေ့သမျှ တပ်ဖွဲ့များမှာ တပ်ပျက်လုနီးပါး အခြေသို့ ရောက်လျက် ရှိကြပါပြီ။ တပ်ရင်းတိုင်း တွင် တပ်ရင်းအလံနှင့်အတူ ရှိနေကြသူများမှာ တပ်သား လေးပုံတစ်ပုံမျှပင် မရှိတတ်တော့ပါ။ ကျန်တပ်သားများကား အစာရေစာ ရှာဖွေ ရန် တပ်စည်းကမ်းမှ ရှောင်ထွက်ရန်အလို့ငှာ ခြေဦး တည့်ရာကို ၎င်းတို့၏ အလိုအလျောက် ထွက် ပြေးလျက် ရှိကြပါပြီ။ ယေဘုယျအားဖြင့် ၎င်း တို့မှာ စမိုး လင့်သို့ ရောက်လျှင် အခြေအနေ ကောင်းလိမ့်မည်ဟု မျှော်လင့်လျက် ရှိကြ ပါသည်။ လွန်ခဲ့သည့် ရက်အနည်းငယ်ခန့်က တပ်သား များစွာတို့ ၎င်း၏လက်နက်များ၊ ခဲယမ်းမီး ကျောက်များအား လွှင့်ပစ်ခဲ့ကြခြင်းကို မြင်ခဲ့ရ ပါသည်။ ဤသို့ သော အခြေအနေမျိုး၌ ဘုန်း တော်ကြီးသော ဘုရားတွင် မည်သည့်စီမံကိန်း မျိုးရှိပြီးဖြစ်စေ တပ်တော်ကြီးကို စမိုးလင့်တွင် ပြန်လည် စုရုံးသင့်ပါသည်။ မြင်းမရှိတော့သော မြင်းတပ်များ၊ မလိုအပ်သောပစ္စည်းဝန်ထုပ်များ၊ လက်ရှိတပ်အင်အား

နှင့် မမျှအောင် များပြားလျက် ရှိသော အမြောက်တပ်ပစ္စည်းများ စသည့် အရာ မရောက်သော ဝန်ထုပ်ဝန်ပိုးများကို စွန့်လွှတ်သင့် သည်ဟု ယူဆပါသည်။ ဤသို့ပြုလုပ်ရန်လည်း အရှင်ဘုရား၏ တပ်တော်များ အကျိုးစီးပွားက တောင်းဆိုလျက်ရှိပါသည်။ ငတ်ပြတ်ခြင်း၊ အင်အားကုန်ခန်းခြင်းကြောင့် ပင်ပန်းနွမ်းနယ် " လျက်ရှိသော တပ်တော်များအား စားနပ်ရိက္ခာ နှင့် ရက်အနည်းငယ်အနားယူခွင့်တို့ကို ပေးသင့် ပါသည်။ ယခု အတောအတွင်း၌ လမ်းတစ် လျှောက်တွင် လည်းကောင်း၊ ကွင်းစခန်းများတွင် လည်းကောင်း တပ်သားတို့ အဖိတ်အစဉ်များလှ ပါသည်။ ဤအခြေအနေသည် တစ်စထက်တစ်စ သာ ဆိုးရွားလာခဲ့ပါသည်။ ဤအခြေအနေကို ချက်ချင်း ကုစားခြင်းမပြုလျှင်ကား ရင်ဆိုင်တိုက် ပွဲဖြစ်ပွားလာပါက တပ်တော်များအား အုပ်ထိန်း ၍ ရနိုင်ဖွယ်ရာ မရှိတော့ဟု စိုးရိမ်မိကြောင်းကို ရှိခိုးသံတော်ဦးတင်ဝံ့ပါသည် ဘုရား။

နိုဝင်ဘာလ၊ ၉-ရက်နေ့။

"စမိုးလင့်မှ မိုင်သုံးဆယ်ကွာ စခန်းတစ်နေရာ။"

မိမိတို့အတွက် "လောကနိဗ္ဗာန်"သဖွယ်ဖြစ်သော စမိုးလင့်မြို့တွင်းသို့ ဒယီးဒယိုင် ဝင်ရောက်လာခဲ့ပြီးသည့် နောက်၌ ပြင်သစ်တို့သည် စားနပ်ရိက္ခာများကို လိုက်လံ ရှာဖွေရင်း အချင်းချင်း သတ်ဖြတ်ခြင်း ပြုကြလေသည်။ မိမိတို့၏ ရိက္ခာဌာနများကို ဖောက်ထွင်း လုယက်ကြ လေသည်။ ဤသို့ဖြင့် အကုန်အစင် လုယူပြီးနောက်၌ တစ်ဖန် ဆက်လက် ထွက်ပြေးခြင်း ပြုကြပြန်သည်။

မည်သည့်အရပ်သို့ မည်သည့်အတွက်ကြောင့် သွား လျက်ရှိသည်ကိုမူ မည်သူမျှ မသိကြချေ။ ၎င်းတို့သာမက ဘုန်းရှင်၊ ကံရှင်၊ ပါရမီရှင်ဆိုသော နပိုလီယန်သည်လည်း မသိချေ။ ၎င်းအား အမိန့်ပေးမည့်သူ တစ်စုံတစ်ယောက်မျှ မရှိသည့်အတွက် သာ၍ပင် မသိချေ။ သို့တိုင်အောင် နပိုလီယန်နှင့် ၎င်း၏အပေါင်း

အပါများကား ၎င်းတို့၏ ဓလေ့ထုံးစံဟောင်းတို့ကို စွန့်ပစ်နိုင်ခြင်း မပြုကြသေးဘဲ ဆက်လက် ကျင့်သုံးဆဲပင် ရှိကြသေးသည်။ ၎င်းတို့သည် အမိန့်များ ထုတ်ပြန်ကြသည်။ စာချွန်များ ပို့ကြသည်။ အစီရင်ခံစာချွန်များ ရေးကြသည်။ ပြန်တမ်းများ ရေးကြ သည်။ ၎င်းတို့သည် "အရှင်ဘုရား၊ နောင်တော်၊ မင်းသား ကြီး အက်ကမူး၊ နေပဲဘုရင်" စသဖြင့် ဆက်လက်ခေါ် ဝေါ်သုံးစွဲလျက်ပင် ရှိကြသေးသည်။ သို့ရာတွင် ၎င်းတို့၏ အမိန့်များ၊ အစီရင်ခံချက်များသည် စက္ကူစုတ်များသာ ဖြစ်ခဲ့ကြလေပြီ။ ထိုအမိန့်ပါ အချက်များကို မည်သူက မျှလည်း ဆောင်ရွက်ခြင်းမပြုကြတော့ပြီ။ ဆောင်ရွက် ခြင်းလည်း မပြုနိုင်ကြတော့ပြီ။ ၎င်းတို့သည် "ဘုန်းတော်ကြီးသောဘုရား၊ ကိုယ်တော်ကြီး၊ နောင်တော်ကြီး" စသဖြင့် အချင်းချင်း ဘွဲ့မည်ရည်ပေးလျက် ရှိကြသော်လည်း ၎င်း တို့သည် မကောင်းမှုများစွာကို ကျူးလွန်ခဲ့ကြသော သနား စရာ ဒုက္ခိတများသာ ဖြစ်ကြောင်း၊ ကာလဝိပါက် နောက် ပိုးတက်လျက် ရှိကြောင်းကို ၎င်းတို့အားလုံး သိခဲ့ကြလေ ပြီ။ ၎င်းတို့အားလုံးသည် စစ်တပ်ကြီးတစ်တပ်လုံး၏ အရေးကို တွေးတော စဉ်းစားဟန်ဆောင်လျက် ရှိကြသော်လည်း မိမိတစ်ဦးချင်းအရေး၊ ကိုယ်စီလျင်မြန်စွာ လွတ်မြောက်ရေးနှင့် အသက်ရှင်ရေးကိုသာ စဉ်းစားလျက် ရှိကြလေပြီ။

# အခန်း ၁၇

မော်စကိုမှ (ရုရှားနယ်စပ်) နီမင်မြစ်ကမ်းသို့အပြန် တိုက် ပွဲစဉ်အတွင်း ရုရှားစစ်တပ်ကြီးနှင့် ပြင်သစ်စစ်တပ်ကြီး နှစ်တပ်၏ လှုပ်ရှားမှုများသည် ရုရှားကလေးများ ကစား လေ့ရှိသော"ညောင်ပင်တစ္ဆေကစားခြင်း´နှင့်အလားသဏ္ဌာန် တူလေသည်။ ထိုကစားနည်း၌' ကလေးနှစ်ယောက်၏ မျက်နှာကို အဝတ်စည်းပေးပြီးနောက် ကလေးတစ်ယောက် က ခေါင်းလောင်းလှုပ်၍ "စိန်ခေါ်"ပြီးနောက် အခြား

တစ် ယောက်က လိုက်ဖမ်းရ၏။ အစ၌ ပထမ ကလေးသည် ခေါင်းလောင်းကို နာနာလှုပ်၍ "စိန်" ခေါ်လိုက်၏။ သို့ ရာတွင် မရှောင်သာသည့် အမြောင်ကြားသို့ ရောက်သော အခါ၌ လွတ်အောင် ခြေကို ဖော့နင်းကာ ခြေကုန်သုတ် ပြေးလာခဲ့ သော်လည်း နောက်ဆုံး၌ ဖမ်းသူနှင့် ပက်ပင်း တိုးနေတတ်သည်။

ပထမ၌ ကာလူဂါ ပေတစ်ရာလမ်းမကြီးပေါ်တွင် ရွေ့လျားလျက်ရှိသည့် နပို လီယန်၏ စစ်တပ်များသည် မိမိတို့ နေရာကို အသိပေး၍ "စိန်" ခေါ်ခဲ့သော်လည်း နောက် စမိုးလင့်ပေတစ်ရာပေါ်သို့ ရောက်သည့်အခါ တွင်မူ ခေါင်းလောင်းမှ ဆွဲ လည်းကို လက်ဖြင့် အုပ်ကိုင် ကာ လွတ်လိမ့်မည် အထင်ဖြင့် ခြေကုန်သုတ်ပြေး လာ ခဲ့သည်၌ ရုရှားတို့နှင့်' တည့်တည့်ကြီး တိုးမိလျက်သား ဖြစ်နေလေသည်။

ပြင်သစ်တို့၏ ထွက်ပြေးမှု လျင်မြန်သလောက် ရုရှားတို့၏ လိုက်လံ တိုက်ခိုက်မှု လျင်မြန်ခြင်း၊ ၎င်းနှင့် အညီမြင်းများ အားပြတ်လဲကုန်ခြင်း စသည်တို့ ကြောင့် ရန်သူအနေအထားကို ခန့်မှန်းရှာဖွေရေးတွင် အဓိကဖြစ် သည့် နည်း လမ်းများ (မြင်းတပ်ဖြင့် ကင်းထိုးခြင်း) ကို လည်း အသုံးပြု၍ မရတော့ချေ။ ထိုမျှ မက စစ်တပ်ကြီး နှစ်တပ်၏ စခန်းများ မကြာခဏ လျင်မြန်စွာ ပြောင်း ရွှေ့လျက် ရှိခြင်းကြောင့်လည်း ရသမျှသော သတင်းကို ပင် အချိန်မီ ပေးပို့နိုင်ခြင်း မရှိတော့ ချေ။ စခန်းတစ်နေရာ တွင် ရန်သူရှိသည်ဟူသော မနေ့က ပေးပို့လိုက်သည့် သတင်းကို ယနေ့မှ ရရှိ၍ မနက်ဖြန်မှသာ ဆောင်ရွက် နိုင်သည်ဖြစ်ရာ ထိုအချိန်၌ ရန်သူစစ်တပ်သည် ရှေ့နှစ် ရက်ခရီးသို့ ရောက်ရှိကာ အခြားစခန်းတစ်နေရာတွင် တပ်စွဲလျက် ရှိနေလေပြီ။

သို့ဖြင့် စစ်တပ်ကြီး နှစ်တပ်တို့အနက် တစ်တပ် က ရှေ့ကပြေး၍ တစ်တပ် က နောက်မှလိုက်လျက် ရှိ . လေသည်။ စမိုးလင့်သို့ ရောက်သော် ပြင်သစ်တို့ အတွက် လမ်းအသွယ်သွယ် ပွင့်လျက်ရှိ၏။ စမိုးလင့်တွင် လေးရက် မျှ စစ်နား

လျက်ရှိသည့် အတောအတွင်း၌ ပြင်သစ်တို့သည် ရန်သူတို့၏ နေရာကို သိကြလိမ့်မည်ဟု လည်းကောင်း၊ အကျိုးများသော စီမံကိန်းကို ချမှတ်ကြလိမ့်မည်ဟု လည်းကောင်း၊ အခြေအနေသစ်တစ်ခုကို ဖန်တီးလိမ့် မည်ဟု လည်းကောင်း ထင်မှတ်ဖွယ်ရာရှိ၏။ သို့ရာတွင် လေးရက်မျှနားနေပြီးသည့်နောက်၌လည်း ပြင်သစ်အုပ် ကြီးသည် မည်သည့်စစ်ကစားမှု၊ မည်သည့်စီမံကိန်းကိုမျှ ပြုလုပ်ခြင်းမရှိဘဲ လမ်းဟောင်းအတိုင်း စွတ်ပြေးကြပြန် လေသည်။ လက်ဝဲသို့လည်း မလှည့်၊ လက်ယာဘက်သို့ လည်း မကွေ့ဘဲ ၎င်းတို့အတွက် အဆိုးဆုံးဖြစ်သော ကရပ်စနို-ဩရှား ပေတစ်ရာလမ်းဟောင်းကို ရွေးခဲ့ကြ လေသည်။

ပြင်သစ်တို့၏စိတ်၌ ရန်သူတို့သည် နောက်က လိုက်လာခြင်းသာဖြစ်၍ ရှေ့တွင် တွေ့ရလိမ့်မည်ဟု မျှော်လင့်မထားကြချေ။ ဤအထင်ဖြင့် ပြင်သစ်တို့သည် ၎င်းတို့ ဆုတ်ခွာရာတစ်လျှောက်တွင် တပ်များကို ခွဲကာ ဘေးတစ်ဖက်တစ်ချက်သို့ တစ်ရက်ခရီး အကွာအဝေးအထိ တပ်ဖြန့်ဆုတ်ခဲ့ကြ၏။ ထိုတပ်များရှေ့မှ ဧကရာဇ်ဘုရင် နပိုလီယန်၊ ဘုရင်ငယ်များနှင့် ထိုနောက်မှ နယ်စားများ က ထွက်ပြေးနှင့်ကြ၏။ နပိုလီယန် ခနိပါး မြစ်တစ်ဖက် ရှိ လက်ယာဘက်လမ်းမှ ဆုတ်မည်ဟု မျှော်လင့်ထားသော (ဤလမ်းမှာ နပိုလီယန်အဖို့ ယုတ္တိရှိရှိ ရွေးရမည့် တစ်ခု တည်းသောလမ်းဖြစ်ပါသည်။) ရုရှားစစ်တပ်ကြီးသည် လက်ယာဘက်သို့ ချိုးလာကာ ပေတစ်ရာလမ်းမကြီးပေါ် ၌ ကရပ်စနိုတွင် ဘွားခနဲပေါ်လာခဲ့သည်။ ဤတွင် “ညောင်ပင်တစ္ဆေ” ကစားရာမှာကဲ့သို့ ပြင်သစ်စစ်တပ်ကြီး သည် ရုရှားတပ်ဦးနှင့် ထိပ်တိုက်သွားလေသည်။ ရန်သူ ကို မမျှော်လင့်ဘဲ တွေ့လိုက်ရသောအခါ၌ ပြင်သစ်စစ်တပ် ကြီးသည် ဖရိုဖရဲဖြစ်ကာ လန့်ဖျပ်ယောင်ယမ်း၍ ရုတ် တရက် တန့်လိုက်ပြီးနောက် သတိရလာသည်နှင့် တစ်ပြိုင် နက် ဆက်လက်ထွက်ပြေးခြင်း ပြုပြန်သည်။ နောက် တွင် ကျန်ရစ်ခဲ့သော ၎င်းတို့၏ သွေးသောက်များကိုပင် မစောင့်တော့ဘဲ စွန့်ပစ်ထားခဲ့လေသည်။ ထို့နောက် ပြင်သစ်စစ်တပ်

ကြီး၏ သင်းကွဲလျက်ရှိသော စစ်တပ် သုံးတပ် (ပထမ ဗိုလ်ချုပ်မူးရတ်၏ တပ်များ၊ ထို့နောက် ဗိုလ်ချုပ် ဒါဗောက်၏ တပ်များနှင့် ထို့နောက် ဗိုလ်ချုပ် နေးလ်၏ တပ်များ)သည် တစ်တပ်ပြီးတစ်တပ် ဆိုသလို ရုရှားတို့ လက်ကြားမှ တိုးဖွေ့ ထွက်ပြေးလာကြလေသည်။ ၎င်းတို့သည် အချင်းချင်းကိုလည်း စွန့်ပစ်ခဲ့ကြ၏။ ၎င်း တို့၏ လေးလံသော ဝန်စည်စလယ်များကို လည်းကောင်း၊ အမြောက်မြတပူကြီးများကို လည်းကောင်း၊ မိမိတို့ သွေး သောက်များကို လည်းကောင်း စွန့်ပစ်ခဲ့ကာ ညအချိန်တွင် ရုရှားတို့၏ စစ်ကြောင်းများကို ဖြတ်ကျော်ပြီးနောက်  လက်ယာဘက်တွင် စက်ဝိုင်းခြမ်းသဏ္ဍာန်ဖြစ်အောင် ဆုတ် ခွာထွက်ပြေးကြလေသည်။

မိုလ်ချုပ်နေးလ်မှာ စမိုးလင့်မြို့ရိုးကို ဖောက်ခွဲခြင်း ဖြင့် အလုပ်များလျက်ရှိသောကြောင့် နောက်ဆုံးမှ ဆုတ် ခွာလာခဲ့လေသည်။ စင်စစ်၌ စမိုးလင်းမြို့ရိုးသည် ၎င်းတို့ ဆုတ်ခွာရာလမ်း၌ ဘာမျှ အတားအဆီး မဖြစ်ချေ။ ဤ ( သို့ မိမိတို့ စစ်ဆုတ်လမ်းတွင် ဘာမျှ အနှောင့်အယှက် မဖြစ်သော စမိုးလင်းမြို့ရိုးကို ဤမျှ ဒရောသောပါး ထွက်ပြေးနေသည့်ကြားက (ဒရောသောပါး ဖြစ်နေခြင်း ကြောင့် ကယောင်ကတမ်းလုပ်ခြင်းလည်း ဖြစ်နိုင်ပါသည်။) ဘာမဆိုင် ညာမဆိုင် လက်ပံသား ခားနဲ့ချိုင်ဆိုသကဲ့သို့ အခြောက်တိုက် ဖောက်ခွဲဖျက်ဆီးပစ်ခဲ့ခြင်းမှာကား မိမိဘာသာ ကြမ်းပြင်ပေါ်သို့ လဲကျ၍ ခိုက်မိသောကြောင့် ကြမ်းပြင်ကို ရိုက်နှက်အပြစ်ပေးပုံမျိုးနှင့် တူလှပါသည်။ စစ်သည်တစ်သောင်းရှိသော ဗိုလ်ချုပ်နေးလ်၏ တပ်ဖွဲ့ များသည် နပိုလီယန်ရှိရာ ဩရှားသို့ ရောက်လာသော အခါ၌ စစ်သည်တစ်ထောင်မျှသာ ကျန်တော့သည်။ ဗိုလ် ချုပ်နေးလ်သည် ၎င်း၏ ကျန်တပ်သားများအားလုံးနှင့် အမြောက်များအားလုံးကို စွန့်ပစ်ကာ ညအချိန်တွင် တော • ထူရာ တစ်နေရာမှ ဓနိပါးမြစ်ကို ဖြတ်ကူးပြေးခဲ့ရခြင်း ဖြစ်လေသည်။

ပြင်သစ်တို့သည် ဩရှားမှ တစ်ဖန် ပေတစ်ရာ အတိုင်း ဗီလနာသို့ ဆက်လက်ဆုတ်ပြေးကြပြန်သည်။ လမ်းတစ်လျှောက်၌လည်း နောက်ကလိုက်

လာသော စစ်တပ်ကြီးနှင့် "တူပုန်းတမ်းကစား'သကဲ့သို့ ရှိလေ သည်။ ဘီရဲနာဇီသို့ ရောက်သော် ၎င်းတို့သည် ထပ်မံ၍ အအုပ်အစည်း ပျက်ပြို ကွဲကြပြန်သည်။ အချို့ ရေနစ်သေ ဆုံးကြ၍ အချို့လည်း လက်နက်ချကြသည်။ သို့ရာတွင် မြစ်တစ်ဖက် ကမ်းသို့ ရောက်သူတို့မှာ ဆက်လက်ထွက် ပြေးကြပြန်လေသည်။ ၎င်းတို့၏ ရာဇဝိပတိကား သား မွေးဝတ်ရုံအင်္ကျီကြီးကို ဝတ်ဆင်လျက် အပေါင်းအဖော် များကို စွန့်ကာ စွတ်ဖားတစ်စီးဖြင့် တစ်ယောက်တည်း ဒုန်းစိုင်း ထွက်ပြေးလေတော့သည်။ ဤသို့ မောင်းနှင် ထွက်ပြေးနိုင်သူ အားလုံးတို့သည်လည်း ဤသို့ ထွက် မပြေးနိုင်သူအားလုံးကို ရန်သူနှင့် သေမင်းလက်သို့ ဝကွက် အပ်ထားခဲ့ကာ ထွက်ပြေးကြသည်သာ ဖြစ်ပါသတည်း။

# အခန်း ၁၈

ဤတိုက်ပွဲစဉ်ကြီးတစ်ရပ်လုံးကို ခြုံကြည့်လျှင် ၎င်းမှာ ပြင်သစ်တို့ ထွက်ပြေးကြသော ဖြစ်စဉ်ကြီးတစ်ရပ်မျှသာ ဖြစ်လေသည်။ ထိုတိုက်ပွဲစဉ် အတွင်း၌ ပြင်သစ်တို့သည် ၎င်းတို့ ကိုယ်ကို ၎င်းတို့ ပျက်စီးစေမည့် အပြုအမူများကိုသာ အစွမ်းကုန် လုပ်ဆောင်ခဲ့ကြလေသည်။ ကာလူဂါ ပေတစ်ရာလမ်းမကြီး ပေါ်သို့ လိုမ့်ဆင်းလာသည့်နေ့မှစ၍ ၎င်းတို့၏ ခေါင်းဆောင်ကြီး နပိုလီယန် စစ်တပ်မှ ထွက် ပြေးနေ့အထိ ဖြစ်သော ကာလအတွင်း ပြင်သစ်လူအုပ်ကြီး ပြုမူခဲ့သော လှုပ်ရှားမှုမှန်သမျှသည် တစ်ခုမျှ အဓိပ္ပာယ်မရှိ ချေ။ သို့ဖြစ်ခြင်းကြောင့် ပြည်သူလူထုကြီး၏ လှုပ်ရှား မှု မှန်သမျှသည် လူပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ ဆန္ဒ ကြောင့် ဖြစ်ရသည်ဟု ယူဆကြသော ရာဇဝင်ဆရာများ အဖို့ ထိုတိုက်ပွဲစဉ် ကာလအကြောင်းကို ရေးသားရာ၌ အဖြစ်အပျက်များကို ၎င်းတို့၏ သဘောတရားနှင့် ကိုက် အောင် ရေးနိုင်ကြရှာတော့မည် မဟုတ်ဟု အချို့က ထင် ကောင်း ထင်ကြပေလိမ့်မည်။ သို့ရာတွင် ဤသို့ မဟုတ်ပါ။ ဤတိုက်ပွဲစဉ်နှင့် စပ်လျဉ်း၍

ရာဇဝင်ဆရာများသည် ရာဇဝင်ကျမ်းများကို တောင်လိုပုံမတတ် ရေးခဲ့ကြပြီး ဖြစ်ပါသည်။ ကျမ်းတိုင်း၌ နပိုလီယန်၏ အစီအမံများ၊ စစ် ကစားမှုများ၊ ၎င်း၏ စစ်တပ်ကြီးကို မီးရှူးတန်ဆောင် သဖွယ် လမ်းညွှန်လျက်ရှိသော ၎င်း၏နက်နဲသည့် စီမံကိန်း များနှင့်တကွ ၎င်း၏စစ်သူကြီးများ စစ်ရေးစစ်ရာတွင် မည်မျှပါရမီ ဉာဏ် ထက်မြက်ပုံတို့ကို နေရာအနှံ့ ဖော်ပြခဲ့ ကြသည်သာ ဖြစ်ပါသည်။

နပိုလီယန်သည် စားနပ်ရိက္ခာပေါများရာ ဒေသ တစ်ခုသို့ ဆုတ်မည်ဆိုက ရုရှားတို့၏ အနှောင့်အယှက်မှ ကင်းဝေးနိုင်သော ဘေးကင်းရန်ကင်း ပေတစ်ရာ လမ်းမ ကြီးတစ်လမ်း ရှိပါလျက် ထိုလမ်းအတိုင်း မဆုတ်ခဲ့ချေ။ တစ်ဖန် ထိုလမ်းမှ မဆုတ်ချင်သေးဆိုလျှင် (နောင်တွင် စစ်သေနာပတိချုပ် ကူတူဇောဗ် လိုက်လာခဲ့သည့်) အခြား လမ်းတစ်လမ်းရှိသေးသည်။ နပိုလီယန်သည် ထိုလမ်းမှ လည်း မဆုတ်ခဲ့ချေ။ အဆိုးဆုံးသော လမ်းဖြစ်သည့် မာလိုယာရိုစလက် ပေတစ်ရာအတိုင်း ဆုတ်ခွာခြင်း ပြုခဲ့  လေသည်။ သို့ရာတွင် ဤသို့ ရွေးစရာလမ်းအသွယ်သွယ် ရှိပါလျက်နှင့် အဆိုးဆုံးလမ်းကိုမှ ရွေးချယ်ခြင်းနှင့် ပတ် သက်၍ ရာဇဝင်ဆရာများက နပိုလီယန်ကို မည်သို့ရေး ' သည် ထင်ကြသနည်း။ ဤသို့ ရွေးချယ်နိုင်ခဲ့ခြင်းမှာ နပိုလီယန်၏ ဉာဏ်အမြော်အမြင်ကြီးမှုကြောင့် ဖြစ်သည် ဟု ဆိုခဲ့ကြလေသည်။ စမိုးလင့်မှ ဩရှားသို့ ဆုတ်ခွာ လာခဲ့ရခြင်းကိုလည်း နပိုလီယန်၏ ဉာဏ် အမြော်အမြင် ကြီးမှုဟု ဆိုကြပြန်လေသည်။ တစ်ဖန် ရုရှားစစ်တပ်ကြီး ကို ရင်ဆိုင် တိုက်ခိုက်သည်ဟု ဆိုကာ စစ်သေနာပတိချုပ် အရာကို ခံယူလျက် လက်၌ သစ်ဖြူသားတုတ်ကောက်ကို ဝှေ့ယမ်းလမ်းလျှောက်ရင်း “အချင်းတို့၊ ငါသည် ဧကရာဇ် ( အဖြစ် အတန်ကြာ ဆောင်ရွက်ခဲ့လေပြီ။ ယခု စစ်သေနာ ပတိချုပ်အရာကို ခံယူရန် အချိန်တန်ပြီ”ဟု ဆိုပြီးနောက် မိမိစစ်တပ်ကြီး၏ ပြန့်ကျဲလျက်ရှိသော အပိုင်းအစများကို ကံကြမ္မာလက်သို့ ဝကွက်၍ စွန့်ပစ်ထွက်ပြေးခြင်း

ပြုသော အခါ၌လည်း ဤသည်မှာ နပိုလီယန်၏ သူရသတ္တိ ပြောင် မြောက်မှုဟု ဆိုခဲ့ကြပြန်လေသည်။

တစ်ဖန် စစ်သူကြီးများ (အထူးသဖြင့် စစ်သူကြီး ဗိုလ်ချုပ်နေးလ်) ၏ စိတ်သဘောထား ကြီးမြတ်ပုံကိုလည်း အကျယ်တဝင့် ဋီကာချဲ့ကြပြန်သည်။ စစ်သူကြီးနေးလ် ၏ စိတ်သဘောထား ကြီးမြတ်မှုကား အခြားမဟုတ်။ အကာလ ည အခါတွင် တောထဲမှ ဖြတ်၍ ဓနိပါးမြစ်ကို ကူးပြီးနောက် စစ်တံခွန်များ၊ အမြောက်ကြီးများနှင့် မိမိ ၏ တပ်သား ဆယ်ပုံကိုးပုံကို စွန့်ပစ်ကာ ဩရှားသို့ ထွက် ပြေး လွတ်မြောက်သွားခြင်းသာ ဖြစ်ပါသည်။

ရာဇဝင်ဆရာတို့သည် ထိုမျှသာမကသေးချေ။ ၎င်း၏ သူရဲကောင်းပီသသော တပ်တော်ကြီးကို နောက် ဆုံးစွန့်ခွာသွားသည့် ကြီးမြတ်သော ဧကရာဇ် နပိုလီယန် ၏ အပြုအမူကိုလည်း အလွန်ကြီးမြတ်၍ ဘုန်းရှင်၊ ကံရှင် ( ပါရမီရှင်တို့တွင်သာ တတ်နိုင်စွမ်းသော အမှုကြီးတစ်ခု ဟု ဆိုကြပြန်သည်။ စင်စစ်၌ကား ဤသို့ ကိုယ်လွတ်ရုန်း ၍ ဒရောသောပါး ထွက်ပြေးသည့် အပြုအမူမျိုးသည် သာမန်အရပ်စကားဖြင့် ပြောရလျှင် ယုတ်ညံ့သိမ်ဖျင်းခြင်း အရာတွင် ဧတဒဂ်ရလောက်သော အပြုအမူမျိုး ဖြစ်၍ ထိုအလုပ်မျိုးသည် ရှက်ဖွယ်လိလိရှိသော အလုပ်မျိုး ဖြစ် ကြောင်းကို ကလေးသူငယ်များပင်လျှင် သိပြီးဖြစ်ကြပါ သည်။
သို့သော်လည်း ထိုယုတ်ညံ့မှုပင်လျှင် ရာဇဝင်ဆရာ တို့၏ ကလောင်ဖျား၊ ရာဇဝင်ဆရာတို့၏ ဘာသာစကား ၌ကား ဘုန်းတန်ခိုး ပါရမီရှင်ကြီးတို့၏ ကြီးမြတ်သော ဆောင်ရွက်မှုကြီးတစ်ရပ် ဖြစ်ရပြန်လေတော့သည်။ ရာဇဝင် ဆရာများသည် အံ့ဩဖွယ်ကောင်းလေစွ။

ရာဇဝင်ကို ဆင်ခြင်သုံးသပ်ခြင်းသည် သားရေကြိုး ကို ဆွဲရသည်နှင့် တူလေသည်။ ရာဇဝင်ဆရာများသည် ရာဇဝင်ကို ဆင်ခြင်သုံးသပ်ခြင်းတည်းဟူသော

သားရေ ကြိုးကို လိုသလို ဆွဲဆန့်ပြီး၍ ထပ်မံဆွဲဆန့်ခြင်း မပြု နိုင်တော့သည့် အချိန်၊ ရာဇဝင်ကျော်လူစွမ်းကောင်းဆိုသူ များ၏ လုပ်ဆောင်ချက်များသည် လူ့ဘောင်ကြီးက သတ် မှတ်ထားသော မှန်ကန်ခြင်း၊ တရားမျှတခြင်း စသည့် အရာ တို့နှင့် ငြင်းကွယ်မရအောင် ဆန့်ကျင်လျက်ရှိသော အချိန် ၌ကား ၎င်း တို့သည် "ကြီးမြတ်ခြင်း"ဆိုသော အယူအဆ တစ်ရပ်ကို ထုတ်လုပ်ဖန်တီးလာကြ ပြန်ကာ ရာဇဝင် လူ စွမ်းကောင်းဆိုသူများကို အဖတ်ဆယ်ပေးကြပြန်လေ သည်။ ၎င်းတို့စိတ်၌ "ကြီးမြတ်ခြင်း"ဟူသော အများက သတ်မှတ်ထားသော အမှားနှင့် အမှန် "စံ"ထားချက်များ ၏ အထက်တွင် ရှိသည်ဟု ထင်မှတ်ကြပုံ ရပါသည်။ "ကြီးမြတ်သော"ပုဂ္ဂိုလ်တို့ ပြုလုပ်သမျှသော အရာတိုင်း သည် မည်သည့်အခါမျှ မ မှားဟု ၎င်းတို့ ယူဆကြပါသည်။ "ကြီးမြတ်သော ́ပုဂ္ဂိုလ်တို့၏ ရက်စက် ကြမ်းကြုတ်မှုတို့ကို လည်း အပြစ်မဆိုစကောင်းဟု ထင်ကြပုံရပါသည်။

ရာဇဝင်ဆရာများသည် "ကြီးမြတ်ခြင်း"ဟူသော စကားကို ရေလဲဖြင့် သုံး တတ်ကြလေရာ ၎င်းတို့အမြင်၌ ကောင်းခြင်းနှင့် ဆိုးခြင်းဟူ၍ မခွဲခြားတတ်တော့ ချေ။ "ကြီးမြတ်ခြင်း"နှင့် "မကြီးမြတ်ခြင်း" ဟူ၍သာ ခွဲခြားတတ် ကြတော့သည်။ "ကြီးမြတ်ခြင်း"သည် ကောင်း၍ "မကြီး မြတ်ခြင်းသည် ဆိုးသည်ဟု ၎င်းတို့ 'ယူဆကြဟန် တူ ပါသည်။ ရာဇဝင်ဆရာတို့၏ အမြင်၌ "ကြီးမြတ်ခြင်း" ဟူသည် "လူစွမ်းကောင်း"ဟု ခေါ်သော အထူးသတ္တဝါ တစ်မျိုး၏ အရည်အချင်းတစ်ခုဟု ထင်မှတ်နေကြပုံရ သည်။ နပိုလီယန်သည်လည်း မိမိ၏ ရဲဘော်များလည်းဖြစ် (၎င်း၏ အထင်အရ) မိမိခေါ်ဆောင်လာသူများလည်း ဖြစ်သော စစ်သည်များကို စွန့်ပစ်လျက် နွေးထွေးသော သားမွေးဝတ်ရုံကြီးဝတ်၍ ထွက်ပြေးခြင်းကို "ကြီး မြတ် သော အမှုကြီး"တစ်ခုဟု ထင်မှတ်လျက်ရှိကာ ကြည်နူး လျက် ရှိလေ သည်။ အံ့သြဖွယ် ကောင်းလေစွ။

“မွန်မြတ်ခြင်းအဖြစ်မှ (နပိုလီယန်သည် သူ့ကိုယ် သူ မွန်မြတ်သည်ဟု ယူဆလျက်ရှိ၏ ။) ပြက်ရယ်ပြုခံရ ခြင်းအဖြစ်သို့ သွားရာလမ်း၌ ခြေတစ်လှမ်းသာ ရှိသည်”ဟု နပိုလီယန်က ပြောခဲ့ဖူး၏။ သို့ဖြင့် ကမ္ဘာကြီးသည် “မွန်မြတ်ခြင်း'၊ “ကြီးမြတ်ခြင်း”၊ “နပိုလီယန်၏ ကြီးမြတ် ခြင်း”စသည်တို့ကို အနှစ်ငါးဆယ် ကာလပတ်လုံး တဖွဖွ ရွတ်ဆိုခဲ့လေသည်။

သို့ရာတွင် လောက၌ မှားခြင်း၊ မှန်ခြင်း စသည့် “စံ”ထားချက်များနှင့် နှိုင်းယှဉ် ချိန်ထိုးမရသော “ကြီးမြတ် ခြင်း”ဟူ၍ မရှိချေ။ ဤသို့ ရှိသည်ဟု အသိအမှတ်ပြုခြင်း သည် မိမိ၏ အသိတရား ခေါင်းပါးပုံနှင့် အတိုင်းအဆ မရှိ ယုတ်ညံ့သိမ်ဖျင်းပုံကို ထုတ်ဖော်ဝန်ခံရာရောက်ကြောင်း ကိုကား မည်သူမျှ မ စဉ်းစားမိကြချေ။

ကျွန်ုပ်တို့အဖို့ကား အရာရာကို ကြည့်မြင်ရာ၌ ခရစ်တော်က ပေးအပ်ခဲ့ တော်မူသော မှားခြင်း၊ မှန်ခြင်း “စံ”ထားချက်တို့ဖြင့် နှိုင်းယှဉ်ချိန်ထိုး၍ ကြည့်လေ သည်။ နှိုင်းယှဉ်ချိန်ထိုးခြင်း မပြုစကောင်းသော လူပုဂ္ဂိုလ်တို့၏ ဆောင်ရွက်ချက် ဟူ၍ မရှိနိုင်ချေ။ ရိုးသားဖြောင့်မတ် ခြင်း၊ ကောင်းမြတ်ခြင်းနှင့် မှန်ကန်ခြင်းတို့ မ ရှိရာအရပ် ၌ ကြီးမြတ်ခြင်းဟူ၍ မရှိနိုင်ချေ။

# အခန်း ၁၉

( ၁၈၁၂-ခုနှစ် တိုက်ပွဲစဉ်၌ နောက်ဆုံးကဏ္ဍနှင့် စပ်လျဉ်း သည့် ရာဇဝင် ကျမ်းများကို ဖတ်ရှုလေ့လာပြီးသည့်နောက် ၌ မည်သည့်ရုရှားအမျိုးသားသည် နောင်တသံဝေဂဖြစ် ခြင်း မရှိဘဲနေမည်နည်း။ စိတ်မချမ်းမသာ မဖြစ်ဘဲ နေ မည် နည်း။ ရှုပ်ထွေး မျက်စိလည်ခြင်း မဖြစ်ဘဲ နေမည် နည်း။ ရုရှားတပ်မတော်ကြီး သုံးခုက သာလွန်ကြီးမား သော အင်အားဖြင့် ဝိုင်းရံထားပါလျက်၊ ငတ်မွတ်သွေးခဲ

မတတ်ရှိ၍ ဖရိုဖရဲဖြစ်လျက်ရှိသော ပြင်သစ်တို့ တဖွဲဖွဲ လက်နက်ချခဲ့ကြပါလျက် (ရာဇဝင်ဆရာတို့ ပြောသည့် အတိုင်း ဆိုလျှင်) ရုရှားတို့၏ ရည်ရွယ်ချက်သည် လည်း ပြင်သစ်တို့ကို ပိတ်ဆို့ရန်၊ ဖြတ်တောက်ရန်၊ ၎င်းတို့အားလုံး  ကို လက်ရဖမ်းဆီးရန် ဖြစ်ပါလျက်နှင့် ပြင်သစ်တို့အားလုံး အဘယ့်အတွက်ကြောင့် ဖျက်ဆီးချေမှုန်းခြင်း မခံရသနည်း။

ရုရှားစစ်တပ်ကြီးသည် လွန်စွာ အင်အားနည်း လျက်ရှိချိန်ကပင် ပြင်သစ်တို့ ကို ဘိုရိုဒီနိုတွင် ခုခံတိုက် ခိုက်နိုင်ခဲ့သေးလျှင် ယခု ပြင်သစ်စစ်တပ်ကြီးကို သုံး ဘက်မှ ဝိုင်းကာ ၎င်းတို့အားလုံးကို လက်ရဖမ်းရန် ကြံ ရွယ်ခဲ့သည့်အချိန်၌ အဘယ်ကြောင့် ရည်ရွယ်ချက် အောင် မြင်အောင် မလုပ်နိုင်ခဲ့သနည်း။ ကျွန်ုပ်တို့ က သာလွန် ကြီးမားသော အင်အားဖြင့် ဝိုင်းဝန်းထားပါလျက် ၎င်းတို့ ကို နိုင် အောင် မတိုက်နိုင်ခဲ့သည်မှာ ပြင်သစ်တို့ကပင် ကျွန်ုပ်တို့ ထက် အတိုင်းထက်အလွန် သာလွန် အင်အား ကြီးမားနေ၍လော။ မည်သို့နည်း။ မည် သည့်အတွက် ဤသို့ဖြစ်ရသနည်း။

နှောင်းလူတို့သည် ဤမေးခွန်းများကို မေးလျက် ရှိကြ၏။

ရာဇဝင် (သို့မဟုတ် ရာဇဝင်ဟုခေါ်သောအရာ) က ဤမေးခွန်းများကို ဖြေကြားရာ၌ ဤသို့ ဖြစ်ရခြင်း မှာ ဗိုလ်ချုပ်ကူတူဇော့ဗ်၊ ဗိုလ်ချုပ် တိုမာဆော့ဗ်၊ ဗိုလ် ချုပ်ရှိချာနော့ဗ်နှင့် တကွ ထိုထိုဤဤ ပုဂ္ဂိုလ်တို့က ဤ သို့ ဤသို့သော စစ် ကားမှုများကို ပြုလုပ်ခြင်း မရှိသော ကြောင့် ဖြစ်သည်ဟု ဖြေကြားလေ့ ရှိ၏။

သို့ဖြစ်လျှင် ထိုပုဂ္ဂိုလ်များကကော ထိုစစ်ကစား မှုများကို အဘယ်ကြောင့် မပြုလုပ်ကြသနည်း။ ကြိုတင် စီမံချက်များကို အကောင်အထည် မဖော် သည့်အတွက် အပြစ်ရှိသည်ဆိုလျှင် ၎င်းတို့အား မည်သည့်အတွက်ကြောင့် စစ်ဆေးအပြစ်ပေးခြင်း မပြုသနည်း။ ရုရှားတို့ ဤသို့ မလုပ်နိုင်ခဲ့ခြင်းမှာ ဗိုလ်ချုပ်

ကူတူဇော့ဗ်၊ ဗိုလ်ချုပ် ရှီချာနော့ဗ်တို့ကြောင့်ပင် ဖြစ်သည်ထားပါဦး။ ရုရှားစစ် တပ်ကြီး၏ ရည်ရွယ်ချက်သည် ပြင်သစ် စစ်တပ်ကြီးနှင့် တကွ ၎င်း၏စစ်ကြီးများ၊ ဘုရင်ငယ်များနှင့် ဧကရာဇ် ဘုရင် နပိုလီယန်ကို လက်ရဖမ်းရန် ကြံရွယ်ခဲ့သည်ဟု ဆိုလျှင် ကရပ်စနီနှင့် ဘီရဲဇီနာတို့တွင် အဘယ်ကြောင့် ထိုသို့ မလုပ်ခဲ့သနည်း။ (ထိုဒေသနှစ်ခုစလုံး၌ ရုရှားတို့က သာလွန် အင်အား ကြီးမားခဲ့သည် မဟုတ်လော။) အဘယ် ကြောင့် လက်ရမဖမ်းနိုင်ခဲ့သနည်း။ ဤသည်ကို ကျွန်ုပ် တို့ နားမလည်နိုင်ချေ။ ဤထူးဆန်းသော အခြင်းအရာတို့ကို ရှင်းလင်း ဖော်ပြရာ၌ ဤသို့ ဖြစ်ရသည်မှာ ရုရှားစစ်သေနာပတိ ချုပ် ကူတူဇော့ဗ်က ထိုးစစ်တိုက်စစ်ပြုရန် ဟန့်တားသော ကြောင့် ဖြစ်သည်ဟု ရုရှား စစ်သမိုင်းဆရာများက မိန့် ဆိုကြသည်။ ဤအဆိုအမိန့်သည်လည်း အခြေအမြစ် မရှိချေ။ ကူတူဇော့ဗ်သည် ဟန့်တားခဲ့သော်လည်း အဘယ် မှာများ ဟန့်တား၍ ရခဲ့ပါသနည်း။ ဗျာဇမာနှင့် တာရူ တီနိုတွင် ကူတူဇော့ဗ်တားသည့်ကြားထဲက ရုရှားတို့သည် ဝင်တိုက်ခဲ့ကြသည် မဟုတ်လော။ ဤအချက်ကို ကျွန်ုပ် တို့ သိပြီးဖြစ်သည့်အတွက် ကူတူဇော့ဗ် ဟန့်တား၍ ဤသို့ ဖြစ်ရသည်ဆိုသော စကားသည် အခြေအမြစ် မရှိချေ။

တစ်ဖန် ဘိုရိုဒီနိုတိုက်ပွဲ၌ ပြင်သစ်တို့က အင်အား အလုံးအရင်းဖြင့် ထိုးနှက်ခဲ့သည်ကို ချည့်နဲ့သော အင်အား ဖြင့် ခုခံတိုက်ခိုက်ခဲ့သော ရုရှားစစ်တပ်ကြီးသည် ကရပ်စ နီနှင့် ဘီရဲဇီနာတွင် မိမိက သာလွန်အင်အား ကြီးမား ပါလျက် ဖရိုဖရဲဖြစ်လျက်ရှိသော ပြင်သစ်လူအုပ်ကြီးကို အဘယ့်ကြောင့် အရှုံးပေးခဲ့ရသနည်း။

အကယ်၍ ရုရှားတပ်တို့၏ ရည်ရွယ်ချက်သည် ပြင်သစ်စစ်တပ်ကြီးကို ဖြတ်တောက်ကာ နပိုလီယန်နှင့် ၎င်း၏ စစ်သူကြီးများကို လက်ရဖမ်းရန် ဖြစ်သည်ဟု ဆို လျှင် (ထိုရည်ရွယ်ချက်သည် အောင်မြင်ခြင်း မရှိခဲ့ရုံမျှမက ထိုရည်ရွယ်ချက် အောင်မြင်ရေးအတွက် ကြိုးစားမှုဟူသမျှ သည်လည်း အရှက်တကွဲအကျိုးနည်း

ဖြစ်ခဲ့ရသည့်အတွက်) ဤတိုက်ပွဲစဉ်ကာလသည် မိမိတို့၏ အောင်ပွဲဖြစ်သည်ဟူသော ပြင်သစ်ရာဇဝင်ဆရာတို့၏ အယူအဆကို အမှန် ဟု လက်ခံ၍ မိမိတို့၏ အောင်မြင်မှုကြီး ဖြစ်သည်ဟူသော ရုရှားရာဇဝင်ဆရာတို့၏ အယူအဆကို မှားသည်ဟု ဆို ရပေလိမ့်မည်။

ရုရှားရာဇဝင်ဆရာများသည် ယုတ္တိရှိရှိ တွေးခေါ် စဉ်းစားကြသူများဖြစ်လျှင် ဤကောက်ချက်ကို ဝန်ခံရ မည်သာ ဖြစ်လေသည်။ ၎င်းတို့က ရုရှား တပ်မတော်ကြီး ၏ သူရသတ္တိပြောင်မြောက်ပုံ၊ သစ္စာရှိပုံတို့ကို မည်မျှ ခမ်းနားကြီးကျယ်စွာ မော်ကွန်းထိုးကြစေကာမူ ပြင်သစ် တို့ မော်စကိုမှ ဆုတ်ခွာသွားခြင်းသည် နပိုလီယန်အတွက် အောင်ပွဲဖြစ်၍ ကူတူဇော့ဗ်အတွက် ဆုံးရှုံးမှုဖြစ်သည်ဆို ခြင်းကို (စိတ်မပါ့တပါဖြင့် ဖြစ်စေ) ဝန်ခံရမည်သာ ဖြစ် လေသည်။ ၊ သို့ရာတွင် (ရုရှားဖြစ်၍ ရုရှားလူမျိုးဘက်က လိုက်သည် ထင်ကာမှထင်ရော့) လူမျိုးရေးအစွဲအလမ်း မရှိ၊ မျက်နှာလိုက်ခြင်းမရှိဘဲ ပြောရမည်ဆိုပါက ဤ ကောက်ချက်သည်လည်း ရှေ့နောက် ညီညွတ်ခြင်း မရှိ ပြန်ချေ။ ထိုတိုက်ပွဲစဉ်သည် ပြင်သစ်တို့အဖို့ အောင်ပွဲဖြစ် သည်ဆိုလျှင် အဘယ့်ကြောင့် ပြင်သစ်စစ်တပ်ကြီး ဗုန်းဗုန်းလဲကျဆုံးခဲ့ရသနည်း။ ရုရှားတို့၏ ဆုံးရှုံးမှုဆိုလျှင် အဘယ် ကြောင့် ရန်သူတို့ကို လုံးဝ ပျက်ပြုန်းစေ၍ ရုရှားပြည်ကြီး ကို လွတ်မြောက်စေနိုင်ခဲ့သနည်း။

ဤသို့ ရှေ့နောက်မညီမညွတ် ဖြစ်နေခြင်းမှာ အခြားကြောင့် မဟုတ်ချေ။ ရာဇဝင်ဆရာများသည် ဘုရင် ကေရာဇ်များနှင့် စစ်ဗိုလ်များ၏ စာချွန်များ၊ မှတ်စုမှတ် တမ်းများ၊ အစီရင်ခံချက်များ၊ စီမံကိန်းများမှတစ်ဆင့် အဖြစ်အပျက်များကို လေ့လာပြီးနောက် ၁၈၁၂-ခုနှစ် ထိုတိုက်ပွဲစဉ်ကာလ၌ တကယ်မရှိသော ရည်ရွယ်ချက်ကို တကယ်ရှိလေဟန် ရေးခဲ့ကြခြင်းကြောင့် ဖြစ်လေသည်။ တစ်နည်းဆိုရလျှင် နပိုလီယန်နှင့်တကွ ၎င်း၏စစ်သူကြီး များနှင့် စစ်တပ်ကြီးတစ်ခုလုံးကို ဖြတ်တောက်ရန်၊ လက်ရ ဖမ်းရန် ရုရှားတို့၌ ကြံရွယ်ချက်ရှိခဲ့သည်ဟု မရှိ

ကို အရှိ လုပ်၍ ရေးခဲ့ကြသောကြောင့် ဤသို့ ရှေ့နောက်မညီမညွတ် ဖြစ်နေရခြင်း ဖြစ်လေသည်။

စင်စစ်၌ကား ရုရှားတို့၌ အဆိုပါ ကြံရွယ်ချက် မျိုး မရှိခဲ့ချေ။ ရှိလည်း မရှိနိုင်ချေ။ မရှိရခြင်းမှာ အဓိပ္ပာယ် မရှိသောကြောင့် ဖြစ်လေသည်။ ထိုကြံရွယ်ချက်ကို အကောင်အထည်ဖော်ရန် မဖြစ်နိုင်သောကြောင့် ဖြစ်လေ သည်။

အဓိပ္ပာယ်မရှိဟု ဆိုရခြင်းမှာ အောက်ပါအကြောင်း များကြောင့် ဖြစ်သည်။

ပထမအချက်။ နပိုလီယန်၏ဖရိုဖရဲ စစ်တပ် ကြီးသည် အမြန်ဆုံး နှုန်းထားဖြင့် ရုရှားပြည်တွင်းမှ ထွက်ပြေးလျက် ရှိသောကြောင့် ဖြစ်သည်။ တစ်နည်းဆို ရလျှင် ရုရှားတိုင်း တောင့်တသောအရာကို ၎င်းဘာသာ အလိုအလျောက် ပြုလုပ်နေပြီ ဖြစ်သောကြောင့် ဖြစ် သည်။ ထို့ကြောင့် မြန်နိုင်သမျှ မြန်မြန်ထွက်ပြေးလျက် ရှိသော ပြင်သစ်စစ်တပ်ကြီးကို စစ်ဆင်ရေး အမျိုးမျိုး ပြုလုပ်ခြင်းဖြင့် မည်သို့ အကျိုးထူးဦးမည်နည်း။ ဤသို့ ပြုလုပ်ခြင်းသည် အဓိပ္ပာယ်ကင်းမဲ့မည်သာ ဖြစ်သည်။

ဒုတိယအချက်။ နပိုလီယန်၏ စစ်တပ်ကြီး သည် မိမိ၏ ရှိသမျှစွမ်းအားကို အစွမ်းကုန်သုံး၍ ထွက် ပြေးရန် ဦးတည်လျက် ရှိသည်။ ဤသို့ ဦးတည်လျက် ရှိသော စစ်တပ်ကြီးကို လမ်းမှ ပိတ်ဆို့ခြင်းဖြင့် မည်သို့ အကျိုးထူးဦးမည်နည်း။ ဤသို့ ပြုလုပ်ခြင်းသည် အဓိပ္ပာယ် ကင်းမဲ့မည်သာ ဖြစ်သည်။

တတိယအချက်။ ပြင်သစ်စစ်တပ်ကြီးသည် ပြင်ပ ပယောဂမပါဘဲနှင့်ပင် အလိုအလျောက်ပျက်စီးပြိုကွဲ လျက် ရှိသည်။ လမ်းမှ ပိတ်ဆို့ခြင်း မပြုဘဲနှင့်ပင် နယ်စပ် ကို ဖြတ်ကျော်သောအခါ၌ ပြင်သစ်စစ်တပ်ကြီးတွင် မူလ အင်အား၏ အပုံတစ်ရာပုံ တစ်ပုံထက်ပင် ကျန် တော့မည်မဟုတ်။ (ဒီဇင်ဘာလထဲတွင်

နယ်စပ်ကို တကယ် ကျော်ဖြတ် ဆုတ်ခွာသွားသောအခါ၌ ထိုမျှသာ ကျန်တော့သည်။) ဤသို့သော နှုန်းထားဖြင့် ပျက်စီးပြိုကွဲလျက် ရှိသော စစ်တပ်ကြီးကို ချေမှုန်းရန်အတွက် မိမိတပ်သား များ၏ အသက်ကို အဘယ့်ကြောင့် အလဟဿ ဆုံးရှုံး ခံဦးမည်နည်း။ ဤသို့ ပြုလုပ်ခြင်းသည် အဓိပ္ပာယ်ကင်းမဲ့ မည်သာ ဖြစ်သည်။

စတုတ္ထအချက်။ နပိုလီယန်နှင့်တကွ ဘုရင်ငယ် များ၊ နယ်စားများကို လက်ရဖမ်းလိုသော ဆန္ဒသည်လည်း အဓိပ္ပာယ်မရှိချေ။ ၎င်းတို့ကို ဖမ်းဆီးခြင်းသည် ရုရှား တို့အဖို့ အလွန် "ကြောင်"သော အလုပ်ကြီးတစ်ခုဖြစ် သည်။ ဤသည်ကို ထိုစဉ်က ကျွမ်းကျင်လိမ္မာဆုံးသော သံတမန်များ (ဥပမာ ဂျိုးဇက် ဒီမေတား စသည်)ကလည်း ထောက်ပြခဲ့ကြသည်။ ထိုမျှမက ပြင်သစ်တို့၏ တပ်ဖွဲ့ ကြီးများကို လက်ရဖမ်းလိုသည်ဆိုခြင်းမှာ သာ၍ပင် အဓိပ္ပာယ်မရှိချေ။ ထိုအချိန်၌ ရုရှားတပ်များကိုယ်တိုင် သည်ပင်လျှင် ကရပ်စနိုသို့ မရောက်မီကတည်းက တစ်ဝက်ကျော်မျှ သေကြေပျက်စီးခဲ့ပြီးဖြစ်သည်။ ထိုမျှမက ပြင်သစ် သုံ့ပန်း တပ်ဖွဲ့ကြီးများကို စောင့်ရှောက်ရန်အတွက် တပ်မ ကြီး တစ်တပ်စာမျှ သုံးရဦးမည် ဖြစ်သည်။ ရုရှားတပ် များ ကိုယ်တိုင်ရိက္ခာကို အပြည့်အဝမရဘဲ မလောက်မင စားနေရချိန်လည်း ဖြစ်သည်။ လက်ရဖမ်းပြီး သုံ့ပန်းများပင် လျှင် ငတ်ပြတ်သေကြေ ပျက်စီးလျက် ရှိချိန် ဖြစ်သည်။ ထို့ကြောင့် ဤအချိန်မျိုးတွင် ပြင်သစ် ဧကရာဇ်နှင့်တကွ ၎င်း၏ စစ်သူကြီးများ၊ တပ်ဖွဲ့များကို လက်ရဖမ်းဆီးမည် ဆိုခြင်းသည် လားလားမျှ အဓိပ္ပာယ် မရှိချေ။

နပိုလီယန်နှင့်တကွ စစ်တပ်ကြီး ဖြတ်တောက်ရန် ဖမ်းဆီးရန်ဆိုသည့် နက်နဲသော စီမံကိန်းများ အားလုံး သည် မိမိစိုက်ပျိုးထားသည့် ပျိုးခင်းကို ဝင်နင်းသည့် နွားအား ခြောက်လှန့် မောင်းနှင်ရာ၌ ပြေးထွက်လာသော နွား၏ ခေါင်းကို ခြံဝမှ ဆီးပိတ်ရိုက်နှက်သော ခြံသမား တစ်ယောက်၏ စီမံကိန်းမျိုးသာ ဖြစ်လေ

သည်။ ပြေး ထွက်လာသည့်နွားသည် ခြံဝတွင် ပြေးပေါက် ပိတ်လျက် ရှိခြင်း ကြောင့် ခြံထဲသို့ ပြန်လှည့်ကာ ပျိုးခင်းများကို နင်းပစ်ဦးမည်သာ ဖြစ်လေသည်။ ခြံသမားသည် မိမိပျိုး ခင်း ပျက်စီးသည့်အတွက် စိတ်ဆိုးလွန်းသောကြောင့် ဤသို့ လုပ်ရခြင်း ဖြစ်သည်ဟု ပြောနိုင်ပါသေးသည်။ ခွင့်လွှတ်နိုင်ပါသေးသည်။ သို့ရာတွင် နပိုလီယန်ကို ပိတ်ဖမ်းရန် စီမံကိန်းကို ရေးဆွဲသူ နိုင်ငံခြားသားတို့အဖို့ ကား ထိုစကားမျိုးကိုပင် မပြောနိုင်ချေ။ ပျိုးခင်းကို ဝင် နင်း၍ နစ်နာဆုံးရှုံးရသူမှာ ၎င်းတို့ မဟုတ်ချေ။

နပိုလီယန်၏ စစ်တပ်ကြီးကို ဖြတ်တောက်ဖမ်း ဆီးရန် အကြံသည် အဓိပ္ပာယ်မရှိကြောင်းကို ဆိုခဲ့ပြီ။ ထိုအကြံသည် အဓိပ္ပာယ်မရှိရုံမျှမက ဖြစ်လည်း မဖြစ် နိုင်ချေ။

မဖြစ်နိုင်ဟု ဆိုရခြင်းမှာ အောက်ပါအကြောင်း များကြောင့် ဖြစ်သည်။

ပထမအချက်။ စစ်တလင်းတစ်ခုတွင် သုံးမိုင် မျှရှည်သော စစ်ကြောင်း များ၏ လှုပ်ရှားမှုသည် မည်သည့် အခါမျှ စီမံကိန်းများအတိုင်း ဖြစ်မလာ သောကြောင့် ဖြစ် သည်။ ဤသည်ကို အတွေ့အကြုံက ပြသခဲ့ပြီး ဖြစ်လေ သည်။ ဗိုလ်ချုပ် ရှီချာနော့ဗ်၊ ဗိုလ်ချုပ် ကူတူဇော့ဗ်နှင့် ဗိုလ်ချုပ် ဝပ်ဂျင်စတိန်းတို့ သတ်မှတ်ထားသော နေရာ တွင် သတ်မှတ်ထားသော အချိန်အတွင်း တွေ့ဆုံကြ ရန် ဆိုသည့်ကိစ္စသည် ရေထဲ အရုပ်ရေးရသည့်နှယ် မဖြစ်နိုင် သော ကိစ္စဖြစ်သည်။ ထိုစီမံကိန်းကို ရရှိသောအခါ၌ အဝေးမှ ဆွဲပေးသော စီမံကိန်းများသည် တကယ့် ပကတိ ရုပ်နှင့် ကွာဟလှသည့်အတွက် လိုရာခရီးသို့ ရောက်ခဲလှ  သည်ဟု စစ်သေနာပတိချုပ် ကူတူဇော့ဗ်ယူဆ၍ ထို အတိုင်းလည်း ထုတ်ဖော်ပြောခဲ့သည်။ ဤအကြောင်း ကြောင့် မဖြစ်နိုင်ဟု ဆိုရခြင်း ဖြစ်သည်။

ဒုတိယအချက်။ နပိုလီယန်စစ်တပ်ကြီး၏ ဆုတ်ခွာမှုအရှိန်အဟုန်ကို ရပ်တန့်တားဆီးရန်မှာ ရုရှား တို့အဖို့ လက်ရှိ အင်အားထက် မနှိုင်းယှဉ်သာအောင် ကြီးမားသော အင်အားကို လိုအပ်သည့်အတွက်ကြောင့် လည်း ဖြစ်သည်။ ထို့ကြောင့် မဖြစ်နိုင်ဟု ဆိုရခြင်း ဖြစ် သည်။

တတိယအချက်။ "ဖြတ်တောက်ရန်" ဟူသော စစ်ဝေါဟာရသည် အဓိပ္ပာယ် မရှိချေ။ လူတစ်ယောက် သည် ပေါင်မုန့်တစ်လုံး၊ သို့မဟုတ် ကြိုးတစ်ချောင်းကို ဖြတ်တောက်ခြင်းပြုနိုင်ပါသည်။ သို့ရာတွင် စစ်တပ်ကြီး တစ်တပ်ကိုမူ ဖြတ် တောက်ခြင်း မပြုနိုင်ချေ။ ဖြတ်တောက် ခြင်း ဟူသည် ထိုစစ်တပ်ကြီးကို ပိတ်ဆို့ ခြင်းဟု အဓိပ္ပာယ် ထွက်ရာ ထိုစစ်တပ်ကြီး၏ လမ်းကို မည်သို့ပိတ်ဆို့နိုင် မည်နည်း။ ထိုလမ်းအပြင် အခြားခြေချစရာမြေကြီး မရှိ တော့ပြီလော။ အကာလ ည အခါ အမှောင်ထုထဲ၌ တိတ် တဆိတ် ချီတက်ခြင်း မပြုနိုင်တော့ပြီလော။ ရှောင် ကွင်း သွား၍ မရတော့ပြီလော။ ကရပ်စနီနှင့် ဘီရဲဇီနာတို့တွင် ပြင်သစ်တို့ တော ထဲမှ ညအချိန် ထွက်ပြေးကြခြင်းကို စစ်ပါရဂူဆိုသူတို့ မသိတော့ပြီလော။ ပုံလွှားငှက်တစ် ကောင်ကို ဖမ်းလိုလျှင် မိမိလက်ပေါ်သို့ လာနားသည့်အခါ ကျမှ ဖမ်း၍ ရနိုင်သည့်နည်းတူ သုံ့ပန်းများကို ဖမ်းလို သည်ဆိုလျှင်လည်း ၎င်းတို့ကိုယ် နှိုက်က အဖမ်းခံရန် သဘောတူမှသာ ဖြစ်နိုင်လေသည်။ ဂျာမန်များ လုပ်လေ့ ရှိ ကြသကဲ့သို့ သေနင်္ဗျူဟာများ၊ နည်းပရိယာယ်များနှင့် အညီ လက်နက်ချခြင်းပြု မှသာ သုံ့ပန်းများကို ဖမ်းဆီး ခြင်း ပြုနိုင်ပေသည်။ သို့ရာတွင် ပြင်သစ်တို့ကား ဤသို့ သုံ့ပန်းအဖြစ် အဖမ်းခံရခြင်းကို မိမိတို့ ဂုဏ်သိက္ခာနှင့် ထိုက်တန်သည် မ ထင်ကြချေ။ ဤသို့ ၎င်းတို့က ယူဆကြ ခြင်းမှာလည်း မှန်ပါသည်။ ၎င်းတို့အဖို့ ထွက်ပြေးသည် ဖြစ်စေ၊ အဖမ်းခံသည်ဖြစ်စေ၊ သေခြင်း၊ ငတ်မွတ်ခြင်းနှင့် သွေးခဲ အောင် အေးမြခြင်းတို့ကို ကြုံတွေ့ရမည့် အတူတူ မည်သည့်အတွက် ရန်သူထံ ဒူး ထောက် အဖမ်းခံကြဦး မည်နည်း။ ထို့ကြောင့် မဖြစ်နိုင်ဟု ဆိုရခြင်း ဖြစ်သည်။

စတုတ္ထနှင့် အရေးအကြီးဆုံးအချက်။ ၁၈၁၂ခုနှစ်တွင် တိုက်သော စစ်ပွဲသည် အဆိုးရွားဆုံး၊ ကြောက် ဖွယ်အကောင်းဆုံးသော အခြေအနေများအောက်တွင် တိုက်ရသည့်စစ်ပွဲဖြစ်သည့်အတွက်ကြောင့်လည်း ဖြစ်သည်။ ကမ္ဘာကြီးဖြစ်ပေါ်လာချိန်မှစ၍ ထိုစစ်ပွဲလောက် အခြေ အနေဆိုးများအောက်တွင် တိုက်ရသည့် စစ်ပွဲဟူ၍ တစ်ပွဲ မျှ မရှိခဲ့သေးချေ။ ရုရှားစစ်တပ်ကြီးသည် ပြင်သစ်စစ်တပ် ကြီးကို လိုက်လံ တိုက်ခိုက်ရာ၌ ၎င်း၏ ရှိသမျှအင်အား ကို အစွမ်းကုန် ဖျစ်ညှစ်ထုတ်၍ တိုက်ခဲ့ရခြင်း ဖြစ်လေ ရာ ထို့ထက် ခွန်အားထုတ်ရမည်ဆိုလျှင် ၎င်းလည်း ဗုန်းဗုန်းလဲ ကျဆုံးဖို့သာ ရှိလေသည်။ ဤအကြောင်း ကြောင့် မဖြစ်နိုင်ဟု ဆိုရခြင်း ဖြစ်သည်။

တာရူတီနိုမှ ကရပ်စနိုသို့ ချီတက်လှုပ်ရှားခဲ့သည့် အတောအတွင်း၌ ရုရှားစစ်တပ်ကြီးတွင် ကျဆုံးသူ၊ ပျောက် ဆုံးသူ၊ ဒဏ်ရာရသူ ဦးရေမှာ ငါးသောင်းမျှ ရှိလေရာ ထိုဦးရေသည် ခရိုင်မြို့ကြီးတစ်မြို့၏ လူဦးရေနှင့် ညီမျှ ပေသည်။ ရုရှားစစ်တပ်ကြီး၏ တပ်သားတစ်ဝက်ကျော် တို့သည် တိုက်ပွဲတစ်ပွဲမျှ မတိုက်ရဘဲနှင့် ဆုံးရှုံး ပျက်စီး ခဲ့ရလေသည်။

တိုက်ပွဲစဉ်၏ ထိုကာလသည် ရုရှားစစ်တပ်ကြီး အဖို့ အခြေအနေအဆိုးဝါးဆုံးသော ကာလဖြစ်လေသည်။ တပ်သားများ၌ အအေးဒဏ်ကို ကာကွယ်ရန် စစ်ဖိနပ်ရှည် များ၊ သိုးရေအကျီများလည်း မရှိတော့ချေ။ အရက်လည်း မရှိတော့ချေ။ စားနပ်ရိက္ခာလည်း မရှိတော့ချေ။ ညအခါ များ၌လည်း သုညအောက် နှစ်ဒီဂရီမျှရှိသော နှင်းခဲများ ထဲ၌ လပေါင်းများစွာ စခန်းချခဲ့ကြရသည်။ ထိုကာလ၌ အလင်းရောင်ကို မြင်ရသည့်အချိန်မှာ ခုနစ်နာရီ၊ ရှစ်နာရီ မျှသာ ဖြစ်၍ ကျန်အချိန်များမှာ စည်းကမ်းကို ကွပ်ကဲထိန်း သိမ်းရန် ခက်ခဲသော ညဥ့်အချိန်များ ဖြစ်နေတတ်သေး သည်။ အကွပ်အထိန်းမဲ့သည့် ကာလမှာလည်း တိုက်ပွဲ တစ်ပွဲမှာကဲ့သို့ နာရီအနည်းငယ်မျှသာ မဟုတ်ဘဲ လပေါင်း များစွာ ကြာရှည်ကာ သေမင်းကို

ရင်ဆိုင်နေကြချိန် ဖြစ် သည်။ ငတ်မွတ်ခြင်း၊ အအေးမိခြင်း စသည့် အန္တရာယ် များ ကိုလည်း မိနစ်၊ စက္ကန့်နှင့်အမျှ တိုက်ခိုက်နေရသေး သည်။ တပ်သားတစ်ဝက် ကျော်မျှသည် တစ်လအတွင်း ပျက်စီးဆုံးရှုံးခဲ့ရသည်။ သို့တိုင်အောင် ရာဇဝင်ဆရာ များ  သည် ဤအချက်များ အားလုံးကို မမြင်ယောင်ပြုလျက် ဗိုလ်ချုပ် မီလိုရာဒိုဗ စ်ချ်က ဤနေရာသို့ တောင်ပံလှုပ် ရှားမှုပြုသင့်သည်ဟု လည်းကောင်း၊ ဗိုလ်ချုပ် တိုမာဆော့ဗ် ကထိုနေရာသို့ တောင်ပံလှုပ်ရှားမှု ပြုသင့်သည်ဟု လည်း ကောင်း၊ ဗိုလ်ချုပ်မှီချာနော့ဗ်က အခြားတစ်နေရာသို့ ဖြတ် ကူးသင့်သည်ဟု လည်းကောင်း (ဆီးနှင်းပြင်ကြီး ပေါင် လယ်လောက် ရှိနေသည်ကိုမူ စဉ်းစားမိကြပုံ မရပါ။) ပြင် သစ်တပ်များ မည်သို့မည်ပုံ "ဖြတ်တောက်၍ မည်သို့ မည်ပုံ "တပ်ပြို"သွားအောင် လုပ်သင့်သည်ဟု လည်း ကောင်း စသည် စသည်ဖြင့် ဝေဖန်ပြောဆိုလျက် ရှိကြ ချေသည် တကား။

တကယ်၌ကား ရုရှားစစ်တပ်ကြီးသည် တပ်သား တစ်ဝက်ကျော်မျှ အကျအဆုံးခံကာ ရုရှားလူမျိုး၏ ဂုဏ် သိက္ခာနှင့် ထိုက်တန်အောင် ပြုလုပ်သင် ပြုလုပ်နိုင်သော အရာအားလုံးကို ပြုလုပ်ခဲ့လေပြီ။ နွေးထွေးသော ညေ့ခန်း ဆောင်များထဲတွင် "ဇိမ်"ဖြင့် ထိုင်လျက်ရှိသူ အခြား ရုရှား များ၏ ပါးစပ်က မဖြစ် နိုင်သောအရာများကို မလုပ်ရ ကောင်းလားဟု ပြောဆိုနေသံကို ကြားရရုံမျှဖြင့် ကား ထိုရုရှားစစ်သားများကို အပြစ်မဆိုထိုက်ချေ။

ကျွန်ုပ်တို့ နှောင်းလူများသည် တကယ့်အဖြစ် အပျက်များနှင့် ရာဇဝင် အဆိုအမိန့်များ ထူးဆန်းစွာ ကွဲလွဲလျက် ရှိခြင်းကို တွေ့ရသည့်အခါ၌ နားမလည် အောင် ဖြစ်လျက်ရှိကြလေသည်။ တကယ့်အဖြစ်အပျက်များနှင့် ရာဇဝင် အဆိုအမိန့်များ၊ ဤသို့ ထူးဆန်းစွာ ကွဲလွဲချက် ရှိခြင်းမှာ အခြားကြောင့်မဟုတ်။ ပြဿနာကို ကိုယ်တွယ် လျက်ရှိသော ရာဇဝင်ဆရာများသည် အဖြစ်အပျက်များ

၏ ရာဇဝင်ကို ရေးသားနေကြခြင်း မဟုတ်ဘဲ စစ်ဗိုလ် ချုပ်များ၏ စိတ်နေသဘောထားများ၊ လှပသော စကား လုံးများ၏ ရာဇဝင်ကို ရေးသားနေကြခြင်းကြောင့်သာ ဖြစ်လေသည်။

၎င်းတို့အဖို့၌ကား ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်၏ စကားများ၊ ၎င်း၏ ကောက်ချက်များ၊ ထိုဗိုလ်ချုပ်၊ ဤ ဗိုလ်ချုပ်တို့ ရရှိသည့် ဆုတော်၊ လာဘ်တော်များကိုသာ စိတ်ဝင်စား၍ စာဖွဲ့လောက်ဟု ထင်ကြပုံရပါသည်။ ဆေးရုံများ၊ သင်္ချိုင်းများထဲတွင် ကျန်ရစ်ခဲ့ကြသော လူ ပေါင်း ငါးသောင်းလောက်၏ ကိစ္စကိုကား ရာဇဝင်၌

"အရာသွင်း" လောက်သည် မထင်သောကြောင့် စိတ်ဝင် စားဖော်မျှပင် မရကြချေ။

သို့ရာတွင် ဖြေရှင်း၍ မရနိုင်ဟု ထင်ရသော ရာဇဝင် ပြဿနာများ အားလုံးနှင့် ပတ်သက်၍ အမြန် ဆုံးနှင့် အသေချာဆုံးသော အဖြေကို အလွယ်ကူဆုံးနှင့် အရှင်းလင်းဆုံး ရရန်မှာ တစ်နည်းသာ ရှိပါသည်။ ယင်း မှာ ခက်ခက်ခဲခဲ မဟုတ်ပါ။ စစ်ဗိုလ်ချုပ်များ၏ အစီရင် ခံချက်များ၊ ယေဘုယျ စီမံကိန်းများအား အပတ်တကုတ် လေ့လာခြင်းကို စွန့်လွှတ်ကာ အဖြစ်အပျက်များတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ခဲ့ကြသော လူထုကုဋေကုဋာတို့ ၏ လှုပ်ရှားမှုကို ထည့်သွင်းစဉ်းစားခြင်း ပြုရုံမျှသာ ဖြစ် ပါသည်။

နပိုလီယန်နှင့် ၎င်း၏ စစ်တပ်ကြီးကို ဖြတ်တောက် ရန်ဟူသော ရည်ရွယ်ချက်သည် တစ်ဒါဇင်မျှလောက်သော လူအချို့၏ စိတ်ကူးထဲမှအပ အခြား ဘယ်တွင်မျှ မရှိပါ။ ရှိလည်း မရှိနိုင်ပါ။ အကြောင်းမူ ထိုရည်ရွယ်ချက်သည် အဓိပ္ပာယ်ကင်းမဲ့ရုံမျှမက ဖြစ်လည်းမဖြစ်နိုင်သောကြောင့် ဖြစ်ပါသည်။

ပြည်သူလူထု၌ ရည်ရွယ်ချက် တစ်ခုတည်းသာ ရှိပါသည်။ ယင်းမှာ မိမိတို့နိုင်ငံကို ကျူးကျော်မှုမှ လွတ်  မြောက်စေရန်ပင် ဖြစ်သည်။ ပထမအချက်အားဖြင့် ပြင်သစ် တို့အလိုအလျောက် ထွက်ပြေးကြပြီ ဖြစ်သဖြင့် ထိုရည် ရွယ်ချက်သည် ပြီးမြောက်ခဲ့ပါပြီ။ ပြင်သစ်တို့၏ ထွက်ပြေး ခြင်းကို ရပ်တန့်ဆီးဆို့ခြင်းမပြုရန်သာ လိုပါသည်။ ဒုတိယ အားဖြင့် ပြင်သစ်တို့အား ချေမှုန်းလျက်ရှိသော ပြောက်ကျား စစ်ပွဲကြောင့် ထိုရည်ရွယ်ချက်သည် ပြီးမြောက်ခဲ့ပါပြီ။ တတိယအားဖြင့် ကြီးမားသော ရုရှားစစ်တပ်ကြီးသည် ပြင်သစ်တို့နောက်မှ ထက်ကြပ်လိုက်ကာ ၎င်းတို့၏ထွက် ပြေးခြင်း ရပ်တန့်သွားပါက အားစိုက်၍ တွန်းရန် အဆင် သင့်ဖြစ်နေသည့်အတွက် ထိုရည်ရွယ်ချက်သည် ပြီးမြောက် ခဲ့ပါပြီ။

ရုရှားစစ်တပ်ကြီးသည် ပြေးသွားလျက်ရှိသော တိရစ္ဆာန်တစ်ကောင်ကို ရိုက်အံ့ဟု ခြိမ်းခြောက်သော နှင်တံကဲ့သို့ ကျင့်ရာသည်။ ပြေးသွားလျက်ရှိသော နွားကို ပိုမို လျင်မြန်စွာ ပြေးသွားစေရာ၌ နွား၏ဦးခေါင်းကို ရိုက်ခြင်းထက် နှင်တံကို မြှောက်၍ ရိုက်အံ့ကဲ့သို့ ခြိမ်း ခြောက်ခြင်းက ပိုမို ထိရောက်ကြောင်းကို ကျွမ်းကျင်လှစွာသော လှည်းသမားသည် ကောင်းစွာ သိသည်သာ ဖြစ်ပါသတည်း။

# အပိုင်း ၁၅

## အခန်း ၁

လူတစ်ယောက်သည် သတ္တဝါတစ်ခု သေဆုံးသွားခြင်းကို မြင်ရသည့်အခါ၌ ထိတ်လန့်တုန်လှုပ်သော ဝေဒနာတစ်မျိုး ကို ခံစားရလေသည်။ မိမိကဲ့သို့ အသွေးအသားဖြင့် ဖွဲ့ စည်းထားသည့် ရုပ်တစ်ခုသည် မိမိမျက်စိရှေ့ မှောက်မှာပင် ချုပ်ငြိမ်းကွယ်ပျောက်ခဲ့ရလေပြီ။ သို့ရာတွင် ထိုသေဆုံးသွား သောအရာသည် မိမိ ချစ်မြတ်နိုး၍ ရင်းနှီးကျွမ်းဝင်အပ် သော လူသတ္တဝါတစ်ဦး ဖြစ်သည်ဆိုလျှင်ကား သေခြင်း တရားကို ထိတ်လန့်တုန်လှုပ်သော ဝေဒနာမျှသာမကတော့ ချေ။ အဆုံးကြီးဆုံးရလေပြီ၊ ကွေကွင်းရလေပြီဟူသော (စေတသိကဝေဒနာ) စိတ်၏ ဒဏ်ရာ တစ်မျိုးကိုလည်း ခံစားရလေသည်။ စိတ်၏ ဒဏ်ရာသည် (ကာယိကဝေဒနာ ဟု ဆိုအပ်သော) ကိုယ်၏ ဒဏ်ရာကဲ့သို့ပင် တစ်ခါတစ်ရံ၌ သေလုမျောပါး ကြီးကျယ်၍ တစ်ခါတစ်ရံ၌ အပေါ်ယံတွင် ပျောက်ကင်းသွားတတ်သည့်တိုင် အတွင်း၌ မြုံလျက်ရှိကာ တစ်စုံတစ်ခုနှင့် ထိခိုက်မိသည်နှင့် တစ်ပြိုင်နက် အသည်း ခိုက်အောင် နာကျင်ခြင်း ဖြစ်ရလေသည်။

မင်းသားကလေးအင်ဒရေ ကွယ်လွန်ပြီးသည့် နောက်၌ နာတာရှာနှင့် မင်းသမီးလေးမေရီတို့သည် ထို အတိုင်းပင် ခံစားကြရမိသည်။ ၎င်းတို့နှစ်ဦးသည် စိတ်ဝမ်း အားငယ်လျက်ရှိကာ ၎င်းတို့ ခေါင်းပေါ်တွင် ဖုံးအုပ်ခြောက် လှန့်လျက်ရှိသော သေခြင်းတရားဟူသည့် တိမ်တိုက်ကြီးကို မမြင်ရဲအောင် ဖြစ်လျက်ရှိကြ၏။ ဘဝကို ရဲရဲမကြည့်ရဲ အောင် ဖြစ်လျက် ရှိကြ၏။ ၎င်းတို့သည် ဟင်းလင်းပွင့်

လျက်ရှိသော ၎င်းတို့၏ ဒဏ်ရာကို ကြမ်းတမ်း နာကျင် သောအရာနှင့် ခိုက်မိခြင်း မရှိစေရန် အထူးသတိပြု ကာ ကွယ်ကြ၏။ လမ်းမမှ လျင်မြန်စွာ ဖြတ်မောင်းသွားသော ကရထားတစ်စင်း၏အသံ၊ ထမင်းစားခေါ်သံ၊ မည်သည့် အဝတ်ကို ထုတ်ပေးရမည်နည်းဟု အစေတော်များက လာရောက်မေးမြန်းသံ၊ အထူးသဖြင့် ရိုးသားလှိုက်လှဲခြင်း မရှိသော ဖျောင်းဖျနှစ်သိမ့်သံ စသည့် မြင်သမျှ ကြားသမျှ အရာတိုင်းသည် ၎င်းတို့အား စော်ကား နှောင့်ယှက်လျက် ရှိသည်ဟု ထင်မိကြ၏။ ထိုအသံများသည် ၎င်းတို့ဒဏ်ရာ ကို အပ်ဖြင့် ဆွသကဲ့သို့ နာကျင်စေ၏။ ၎င်းတို့သည် ၎င်းတို့၏ ရင်ထဲတွင် ယခုတိုင် ပွဲတင် ရိုက်ခတ်လျက် ရှိသော လေးနက ကြောက်ဖွယ်ကောင်းသည့် ဘာဝနာ တေးကို နားထောင်ရန်အတွက် တိတ်ဆိတ် ငြိမ်သက်ခြင်း ကို အလိုရှိကြရာ ထိုအသံများသည် ချိုးဖောက်ဖျက်ဆီး လျက် ရှိကြ၏။ မိမိတို့ရှေ့တွင် လှစ်ခနဲ မြင်လိုက်ရသော ( သေခြင်းတရား၏ လျှို့ဝှက် ဆန်းကြယ်၍ ဆုံးစမထင်သည့် ချောက်ကမ်းပါးကြီးကို ငုံ့ကြည့်လျက် ရှိသော ၎င်း တို့အား ထိုအသံများက နှောင့်ယှက်ဟန့်တားလျက် ရှိကြ၏။

၎င်းတို့နှစ်ဦးတည်းရှိသည့်အခါကျမှသာလျှင် ၎င်း တို့သည် ထို အနှောင့်အယှက်များ၊ နာကျင်မှုများမှ ကင်း ဝေးကာ ငြိမ်းချမ်းခြင်းကို ရ တော့သည်။ ၎င်းတို့သည် တစ်ယောက်နှင့် တစ်ယောက် စကားပင် များးစွာမပြော မိကြ ချေ။ ပြောသည်ဆိုလျှင်လည်း အလွန်အရေးမကြီးသည့် . ကိစ္စများကိုသာ ပြောဆိုခြင်း ပြုကြပေသည်။

၎င်းတို့သည် အနာဂတ်အကြောင်းကိုလည်း တွေး တောပြောဆိုခြင်း မပြု ရန် ရှောင်ကြဉ်ကြလေသည်။ ( အနာဂတ်အကြောင်းကို တွေးတောပြောဆိုခြင်း သည် ကွယ်လွန်သူ မင်းသားကလေး အင်ဒရေအား အောက်မေ့ တသရသော အဖြစ်ကို စော်ကားရာရောက်သည်ဟု ထင် မိကြသည်။ ကွယ်လွန်လေပြီးဖြစ်

သော မင်းသားကလေး အင်ဒရေနှင့် ပတ်သက်၍ တစ်စုံတစ်ရာ ပြောဆိုခြင်း မပြုမိရန်လည်း ၎င်းတို့နှစ်ဦးသည် ကြိုးစွာသတိထား၍ ရှောင်ကြဉ်ခြင်း ပြုကြသည်။ ၎င်းတို့၏စိတ်၌ ၎င်းတို့နှစ်ဦး ဖြတ်သန်း ကြုံတွေ့ခဲ့ရသော အရာတို့ကို စကားလုံးများဖြင့် ဖော်ပြခြင်းငှာ မရနိုင်ဟူ၍လည်း ယူဆလျက်ရှိကြသည်။ သေလွန်ပြီးသူ၏ မသေလွန်မီက အသေးစိတ်အဖြစ်အပျက် များကို ပြန်ပြောင်းပြောဆိုခြင်းသည် မိမိတို့ရှေ့မှောက်တွင် ပြီးမြောက်အဆုံးတိုင်ခဲ့သော လျှို့ဝှက်ဆန်းကြယ်သည့် မရဏတရား၏ ခမ်းနားကြီးကျယ်မှု၊ အထွတ်အမြတ်ဖြစ်မှု တို့ကို သေးနုပ်သိမ်ဖျင်းအောင် ဖျက်ဆီးရာ ရောက်သည် ဟုလည်း ထင်မိကြလေသည်။

ဤသို့စကားမဆိုဘဲ တုဏှိဘာဝပြုလျက်ရှိကြ ခြင်း၊ ထိုကိစ္စနှင့် နီးနွယ်သွားမည့် အရာများကို ပြောဆို ခြင်း မပြုမိရန် အမြဲတစေ ရှောင်ကြဉ်ခြင်းစသည့် နည်းလမ်းများဖြင့် ၎င်းတို့သည် ၎င်းတို့ပြောဆိုလိုခြင်းမရှိသော ကိစ္စကြီးကို အဘက်ဘက်မှ ကာရံထားခဲ့ကြသည်။ သို့ဖြင့် ၎င်းတို့ အောက်မေ့နှလုံးသွင်းလျက်ရှိသော အရာတို့သည် ၎င်းတို့၏ စိတ်၌ ပို၍ကြည်လင်၊ ပို၍ ထက်မြက်လာခဲ့လေ သည်။

သို့ရာတွင် လောက၌ အနှောင့်အယှက်မရှိ ပြည့် စုံသော ပျော်ရွှင်ခြင်းဟူသည် မရှိနိုင်သကဲ့သို့ အနှောင့် အယှက်မရှိ ပြည့်စုံသော ဝမ်းနည်းကြေကွဲမှုဟူ၍လည်း မရှိနိုင်ချေ။ မင်းသမီးလေးမေရီသည် ယခုအခါ၌ မိမိ ကံကြမ္မာကို မိမိဘာသာ ဆုံးဖြတ်ဖန်တီးရမည့် တစ်ဦး တည်းသော အရှင်သခင်၊ မိမိတူတော်လေးကို စောင့် ရှောက်ရမည့် တစ်ဦးတည်းသော အုပ်ထိန်းသူ ဖြစ်လာခဲ့ လေပြီ။ ထို့ကြောင့် မင်းသမီးလေးမေရီသည် ရက်သတ္တ ပတ်နှစ်ပတ်လုံးလုံး မိမိခိုအောင်းလျက်ရှိရာ ကြေကွဲဝမ်း နည်းခြင်းနိုင်ငံမှ လူ့ဘဝကြီးသို့ ပထမဆုံး ပြန်လည် ဝင်ရောက်ခဲ့ရပြန်လေသည်။ မင်းသမီးလေးမေရီသည် ဆွေမျိုးများဆီမှ စာများရရှိခဲ့ရာ ထိုစာများကို ပြန်ရဦးမည်။ တူတော်မင်းသားလေး၏ အခန်းမှာ စွတ်စိုလျက်ရှိသဖြင့် တူတော်လေးမှာ ချောင်းဆိုးလျက် ရှိသည်။ ကျွန်ယုံကြီး အယ်ပါတစ်

ရောက်လာကာ မိမိတို့၏ စီးပွားရေးကိစ္စ များကို လာရောက် ပြောဆိုခြင်း ပြု သည့်ပြင် တစ်စုံတစ်ရာ ပျက်စီးခြင်းမရှိ၊ အနည်းငယ် ပြင်ဆင်မွမ်းမံဖို့သာ လိုသည့် မော်စကို ဗော်ဗီဇင်ကာလမ်း စံအိမ်ကြီးသို့ ပြန်လည် ပြောင်းရွှေ့ နေထိုင်ခြင်း ပြု ရန် အကြံပေးလျက်ရှိသည်။ လူ့ဘဝကြီးသည် ငြိမ်သက်လျက်ရှိသည် မဟုတ် သည့် ( အတွက် ထိုလူ့ဘဝကြီးတွင် နေထိုင်လှုပ်ရှားခြင်း ပြုရဦး တော့မည်။ မင်းသမီးလေးမေရီသည် မိမိ ယခုတိုင် စီးဖြန်းလျက်ရှိသော ဘာဝနာကမ္မဋ္ဌာန်းကို စွန့်လွှတ်ကာ နာတာရှာအား တစ်ယောက်တည်း ထားခဲ့ရမည်ကို ဝမ်း နည်းခြင်း၊ ရှက်ခြင်း ဖြစ်မိသော်လည်း အမှုပွေလှသော လူ့ဘဝ၏ ကိစ္စဝိစ္စများက ၎င်းအား တောင်းဆိုလျက် ရှိလေပြီ။ သို့ဖြင့် မင်းသမီးလေးမေရီသည် စိတ်မပါ့ တပါဖြင့် လူမှုကိစ္စများ အလိုသို့ လိုက်ခဲ့ရလေသည်။ မင်းသမီးလေးမေရီသည် အယ်ပါတစ် နှင့် စာရင်းရှင်းရ၏။

မိမိ၏ တူတော်လေးအတွက် စာပြဆရာ ဒီဆေးလ်နှင့် တိုင်ပင်ရ၏။ မော်စ ကိုသို့ ထွက်ခွာရန် အမိန့်ပေးကာ ပြင်ဆင်မှုများ ပြုလုပ်ရ၏။

နာတာရှာမှာ တစ်ယောက်တည်းသာ နေလေ့ရှိ လေသည်။ မင်းသမီးလေး မေရီ ခရီးထွက်ဖို့ ပြင်ဆင်သော အခါ၌ ၎င်းနှင့်လည်း ခပ်ခွာခွာ လုပ်လျက်ရှိလေ သည်။

မင်းသမီးလေးမေရီကား နာတာရှာအား မိမိနှင့် အတူ မော်စကိုသို့ ထည့် လိုက်ရန် မြို့စားကတော်ကြီးကို ပြောသည့်အခါ၌ မိဘနှစ်ပါးလုံးကပင် ဝမ်းမြောက်ဝမ်း သာ လက်ခံကြ၏။ သမီးထွေးနာတာရှာမှာ တစ်နေ့တခြား အားအင်ကုန်ခန်းလျက်ရှိရာ “ရေပြောင်း ပြောင်း” သဘောမျိုး ပြောင်းရွှေ့ နေထိုင် ခြင်း၊ မော်စကို၌ သမား တော်ကြီးများကို ပြသခြင်း စသည်တို့ လိုအပ်သည်ဟု ၎င်းတို့နှစ်ဦးစလုံးက ယူဆကြသည်။

"ဟင်းအင်း မေဖျား၊ နာတာရှာ ဘယ်ကိုမှ မသွား ချင်ဘူး။ နာတာရှော့ ဘာသာ နာတာရှာ အေးအေးပဲနေပါ ရစေ မေဖျား"

မော်စကိုသို့ လိုက်သွားရန် ပြောသည့်အခါတွင် နာတာရှာသည် ခန်းဆောင် ထဲမှ ပြေးထွက်သွား၏။ မျက်ရည်များကိုလည်း မနည်းထိန်းချုပ်ထားရ၏။ သို့ရာ တွင် ထိုမျက်ရည်များမှာ ဝမ်းနည်းခြင်းထက် ဝေခွဲမရဖြစ် ခြင်း၊ အနှောင့်အယှက် ဖြစ်ခြင်းတို့ကြောင့်ဖြစ်သော မျက် ရည်များသာ ဖြစ်လေသည်။

မင်းသမီးလေးမေရီသည် မိမိအား ခွဲခွာသွားလေ ပြီ။ ယခုအချိန်တွင် ပူဆွေး သောက ရောက်ရသူမှာ မိမိ တစ်ယောက်တည်းသာ ရှိတော့သည်ဟု သိရှိခံစားမိ သည့် အချိန်မှစ၍ နာတာရှာသည် မိမိအိပ်ခန်းဆောင်အတွင်း တစ်ယောက်တည်း အချိန်ကို ကုန်လွန်စေခဲ့သည်။ ထိုင် ဖုံပေါ်တွင် ကျုံ့ကျုံ့ထိုင်လိုက်၊ ထလိုက်၊ သေးသွယ်တုန် ယင်သော လက်ချောင်းကလေးများဖြင့် တွေ့ရာကို ဆုတ် ' ဖဲချေမွ လိုက်၊ ကြည့်မိကြည့်ရာကို မျက်လုံးကြီးများ အကြောင်သားဖြင့် ကြည့်လိုက်ဖြင့် ဆောက်တည်ရာမရ ဖြစ်လျက်ရှိ၏။ ဤသို့ အထီးကျန်နေရခြင်းသည် နာတာ ရှာ၏ ခွန်အားကို ယုတ်လျော့စေ၍ စိတ်ကို တရိရိနွမ်း စေ၏။ သို့သော်လည်း နာ တာရှာအဖို့ အထီးကျန်မနေ ၍ မဖြစ်ပါ။ အထီးကျန်ဘဝသည် နာတာရှာအဖို့ လုံး ဝ လိုအပ်သောအရာ ဖြစ်ပါသည်။ ခန်းဆောင်ထဲသို့ တစ်ဦး တစ်ယောက် ချဉ်းနင်း ဝင်ရောက်လာသည်နှင့် တစ်ပြိုင် နက် နာတာရှာသည် ဖျတ်ခနဲထသွားကာ မျက်နှာထားကို လည်းကောင်း၊ အမူအရာကိုလည်းကောင်း ပြောင်းပစ် လိုက် တတ်၏။ ထို့နောက် ထိုသူပြန်ထွက်သွားမည့် အချိန် ကို အောင့်အည်းစောင့်စား ကာ စာအုပ်တစ်အုပ်ကို ဖတ်ဟန် ပြုနေတတ်သည်။ သို့မဟုတ် တက်တင်းထိုး ဟန်ပြုနေ တတ်သည်။

နာတာရှာသည် ၎င်း၏ ခွန်အားနှင့်မမျှအောင် ကြီးလေးလှသည့် ကြောက်ဖွယ်မေးခွန်းကြီးနှင့် နပန်းလုံး လျက် ရှိရင်း ၎င်းစီးဖြန်းလျက်ရှိရာ ဘာဝနာကမ္မဋ္ဌာန်း၌ ပျောက်ကွယ်နစ်မြုပ်သွားတော့မည်လောဟုပင် အမြဲတစေ ခံစားမိသည်။

ဒီဇင်ဘာလ ကုန်ခါနီးတစ်နေ့၌ ဖျော့တော့ ပိန်ချုံး လျက် ရှိသော နာတာ ရှာသည် အနက်ရောင် သိုးမွေးဝတ် စုံကို ဝတ်၍ ကျစ်ဆံမြီးကို လျော့ရိလျော့ရဲ ထိုး ထားကာ အိမ်ခန်းဆောင်ထဲရှိ ထိုင်ဖုံတွင် ကျုံ့ကျုံ့ထိုင်လျက်ရှိသည်။ ၎င်း၏ မျက်လုံးများသည် တံခါးထောင့် တစ်နေရာကို စူးစိုက်ကြည့်လျက်ရှိ၍ တုန်ယင် သော လက်ချောင်းကလေး များသည် ပိုးခါးစည်းကြိုးများကို ချေမွလိုက် ဖြန့် လိုက်ပါ နေကြသည်။

နာတာရှာသည် မင်းသားကလေး အင်ဒရေးထွက် သွားရာ ဖြစ်သော တံခါးဝ သို့ စိုက်ကြည့်လျက်ရှိ၏။ တံခါး ၏ အပြင်ဘက်၌ကား လူ့ဘဝ၏ ထိုမှာဘက် ကမ်း ရှိပေသည်။ နာတာရှာသည် လူ့ဘဝ၏ ထိုမှာဘက်ကမ်းကို ယခင်က တစ်ခါ မျှ တွေးတောခြင်း မပြုဘူးခဲ့ချေ။ ထိုမှာ ဘက်ကမ်းသည် ယခင်က မိမိနှင့် ဝေးကွာ လွန်းလှသည် ဟု ထင်ခဲ့၏။ မရောက်နိုင်ဟုထင်၏။ ယခုကား ထိုမှာ ဘက် ကမ်းသည် မိမိနှင့် နီးကပ်လျက်ရှိလေပြီ။ မိမိနှင့် လက်တစ်ကမ်းသို့ ရောက်လျက် ရှိချေပြီ။ ထိုမှာဘက် ကမ်းသည် အနှစ်အရသာ ကင်းမဲ့ခြင်း၊ အထီးကျန် ဖြစ်ရ ခြင်း၊ ပူပန်သောကဖြစ်ရခြင်း၊ သိက္ခာကင်းခြင်း စသည် တို့ဖြင့် ပြီးသော လူ့ဘဝ၏ ဤမှာဘက်ကမ်းကို မြင်ရ ခြင်းထက်ပင် ထင်ရှားလျက်ရှိသေးတယ်။

နာတာရှာသည် မင်းသားကလေး အင်ဒရေးရှိရာ ထိုမှာ ဘက်ကမ်းသို့ စိုက် ကြည့်လျက်ရှိ၏။ သို့ရာ တွင် စိတ်ထဲ၌ကား မင်းသားကလေး အင်ဒရေးသည် မိမိ၏ အနီးတွင်ပင်ရှိသည်ဟု ထင်မိ၏။ မီတစ်ရှိရွာစခန်း၊ ထရွိုက်ဇာ

ဘုန်းကြီးကျောင်းစခန်း၊ ယာဂိုစလာဗာစခန်း များတွင် မိမိကိုယ်တိုင်ပြုစု စောင့်ရှောက်ခဲ့ပုံများကို မြင် ယောင်လာသည်။

နာတာရှာသည် မင်းသားကလေး အင်ဒရေ၏ မျက်နှာကို မြင်မိ၏။ မင်းသား ကလေး အင်ဒရေ၏အသံ ကိုလည်း ကြားမိ၏။ မိမိတို့နှစ်ဦး ပြောဆိုခဲ့ကြသော စကားများကိုလည်း ပြန်၍ပြောမိ၏။ တစ်ခါတစ်ရံတွင် လည်း မိမိတို့ နှစ်ဦး၏ရင် ထဲတွင် ရှိ၍ တစ်နေ့တွင် မလွဲ မရှောင်သာ ပွင့်အန်ထွက်လာမည့် စကားလုံးများ ကို ရွတ်ဆိုကြည့်မိ၏။

မင်းသားကလေး အင်ဒရေသည် ကတ္တီပါဝတ်ရုံကို ခြုံလျက် အရိုးငေါငေါ ထွက်၍ ဖြူရော်သော လက်ပေါ် တွင် ခေါင်းတင်ကာ လက်တင်ထိုင်ဖုံပေါ်တွင် လှဲ လျက် ရှိ၏။ ၎င်း၏ရင်သည် ကြည့်ရက်စရာမရှိလောက်အောင် ပြားချပ်လျက်ရှိ ကာ ပခုံးများသည် မြင့်တက် ထောင်ထနေ ကြ၏။ ၎င်း၏ နှုတ်ခမ်းများသည် တင်းကျပ်စွာ စေ့လျက်၊ မျက်လုံးများသည် တောက်ပလျက် ရှိကြ၏။ တစ်ခါတစ်ရံ တွင်လည်း နဖူးပေါ်တွင် အစွန်းများ ထင်လာကြကာ တစ်ခါတစ်ရံတွင် ပျောက် ကွယ်သွားကြ၏။ ခြေတစ်ဖက် သည် တစ်ချီတစ်ချီတွင် ဆတ်ခနဲ ဆတ်ခနဲ တွန့် သွား တတ်၏။ မင်းသားလေး အင်ဒရေသည် ဝေဒနာကို ကြိတ်မှိတ်ခံလျက် ရှိ ကြောင်း နာတာရှာ သိပါသည်။

"ဘယ်လို ဝေဒနာများပါလိမ့်နော်။ ဒီဝေဒနာကို ဘာကြောင့်များ ခံစားနေရ တာပါလိမ့်။ ဘယ်လိုများ ခံစားရပါလိမ့်။ ဘယ်လောက်များ ခံစားနေရသလဲ မသိ 'ဘူး' နာတာရှာသည် မင်းသားကလေး အင်ဒရေကို ကြည့်၍ တွေးမိသည်။ မင်းသားကလေး အင်ဒရေသည် နာတာရှာ ကြည့်နေကြောင်းကို သတိပြုမိသဖြင့် မျက်လုံး ကို လှန်ကြည့်၍

”ဒုက္ခိတ လူမမာကြီးတစ်ယောက်အနားမှာ ထိုင် ပြီး ဒီလူမမာကြီးကို တစ်သက်လုံး ဆေးပေးမီးယူ စောင့် ရှောက်သွားရတဲ့ လူတစ်ယောက်ရဲ့ ဒုက္ခဟာ လူမမာ့ဒုက္ခ ထက် ကြီးပါတယ် နာတာရှာ။ စိတ်ချမ်းသာစရာဆိုလို့ ဘယ်မှာ ရှိပါတော့မလဲ။ ထာဝရင်ရဲဘုံကြီးနဲ့ အတူတူပါ မင်းသားကလေး အင်ဒရေသည် နာတာရှာ၏ အရိပ်အကဲကို ကြည့်နေ၏။ ထိုအခါမျိုး၌ ထုံးစံအတိုင်း နာတာရှာက လည်း ဘာပြောရမည်ဟု စဉ်းစားခြင်းပင် မပြုရသေးဘဲ မဆိုင်းမတွ အဖြေပေးပြီး သား ဖြစ်နေတတ် သည်။

“အို ဒီလိုလဲမဟုတ်ပါဘူး အစ်ကိုရယ်။ အစ်ကို လဲ ဒီအတိုင်း ဘယ်နေမလဲ။ တစ်နေ့တော့ ပျောက်မှာ ပေါ့။ ရှင်းရှင်းကြီး ကောင်းသွားမှာပေါ့”

နာတာရှာသည် ဤစကားများကို ပြောစဉ်က မြင်ကွင်းကို အမှတ်ရလာကာ ထိုစဉ်က ခံစားချက်များ ကို ပြန်ခံစားမိသည်။ ဤစကားများကို ပြောရင်း ဝမ်းနည်း ကြေကွဲသည့်အသွင်ကို ဆောင်လျက် ရှိသည့် မင်းသား ကလေး အင်ဒရေ၏ မျက်နှာကို မြင်ယောင်လာသည်။ မိမိစကားများ၏ အဓိပ္ပာယ်နှင့် မင်းသားကလေး အင် ဒရေ၏ ညှိုးငယ်သော မျက်နှာက ဖော်ပြလျက်ရှိသော အဓိပ္ပာယ်ကို နားလည်စပြုလာသည်။

နာတာရှာသည် ထိုစကားများကို ကြားယောင်ကာ ယခုအချိန်၌ ကိုယ့်ဘာသာကိုယ် ပြောမိသည်။

“ဟုတ်ပါတယ် အစ်ကို။ အစ်ကိုဟာ ဒီဝေဒနာ ကြီးကို သေတစ်ပန် သက်တစ်ဆုံး ခံစားသွားရမယ်ဆို ရင် ဒုက္ခကြီးလှတယ်လို့ အစ်ကိုပြောတာကို နာတာရှာ သဘောတူပါတယ်။ ဒီတုန်းက နာတာရှာက “မကြာခင် ပျောက်သွားမှာပါ အစ်ကို”လို့ နာတာရှာ ပြောခဲ့တယ်။ နာတာရှာပြောတဲ့ အဓိပ္ပာယ်က အစ်ကိုဒုက္ခကြီးလွန်း တဲ့အတွက် အစ်ကို့အတွက် စိုးရိမ်လို့ ပြောတာပါ အစ်ကို။ အစ်ကို့အနား

မှာ ဆေးပေးမီးယူ လုပ်ရမယ့် နာတာရှာဒုက္ခ အတွက် စိုးရိမ်လို့ ပြောတာမျိုး မဟုတ်ပါဘူး။ ဒါပေမဲ့ ဒီစကားကို အစ်ကိုကတော့ တစ်မျိုး နားလည်ခဲ့တယ်။ သူ့ ဒုက္ခအတွက် မစိုးရိမ်ဘဲ နာတာရှာဒုက္ခအတွက် စိုးရိမ် ခဲ့တယ်။ အဲဒီတုန်းက အစ်ကိုဟာ မသေချင်ရှာသေးဘူး။

လူ့ဘဝကြီးမှာ နေချင်ရှာသေးတယ်။ နာတာရှာပြောတဲ့ စကားကလဲ အားမ ရစရာ ကောင်းလိုက်တာ။ မိုက်မဲ လိုက်တာ။ တွေးတော့ တခြား ပြောတော့ တခြား။ နာ တာရှာ ပြောချင်တဲ့စကားက ဒီလိုမဟုတ်ပါဘူး အစ်ကို။ နာတာရှာ ပြောချင်တာက အစ်ကိုနာတာရှာရှေ့မှောက်မှာ ဘယ်လောက် ဒုက္ခတွေကို ခံစား ရ၊ ခံစားရသည် ဖြစ်စေ ခုလို အစ်ကိုမရှိတော့တာနဲ့ နှိုင်းစာရင် အဲဒီအဖြစ်ကမှ နာ တာရှာ့အဖို့ တော်သေးတယ်လို့ ပြောတာပါ။ အစ်ကို သေသွားတာနဲ့စာရင် ဒုက္ခ ဝေဒနာကို ခံစားနေရတာကမှ နာတာရှာ့အဖို့ စိတ်ချမ်းသာဦးမယ်လို့ ပြောတာပါ။

တကယ်လို့ အစ်ကို သေသွားရင်လဲ နာတာရှာရဲ့ မျက်စိ အောက်မှာ နာတာ ရှာရဲ့ အပြုအစုကို ခံပြီး သေသွားတာ ကို မြင်ရရင် နာတာရှာ ဒီဒုက္ခတွေကို ခံ ရကျိုးနပ်ပါပြီလို့ ပြောခဲ့ဖို့ ကောင်းတယ်။ ခုတော့ အစ်ကိုမရှိတော့ဘူး။ ဘာမှ မရှိ တော့ဘူး။ ဘယ်သူမှ မရှိတော့ဘူး။ နာတာရှာရဲ့ အချစ်ကို အစ်ကို သိမသွားတော့ ဘူး။ နာတာရှာရဲ့ တောင်းပန်သံကို အစ်ကို ကြားမသွားရတော့ဘူး။ နာတာ ရှာ ဟာ ကိုယ့်အပြစ်တွေကို ကျေအောင် ဘယ်လို ကြိုးစား ဆပ်ခဲ့တယ်ဆိုတာ အစ်ကို ဘယ်တော့မှ သိတော့မှာ မဟုတ်ဘူး။ အစ်ကိုမရှိတဲ့နောက်မှာ နာတာရှာရဲ့ အမှား တွေကို ဘယ်တော့မှ အမှန်ဖြစ်အောင် လုပ်လို့ရတော့ မှာ မဟုတ်တော့ဘူး”

နာတာရှာသည် ပါးစပ်က အသံထွက်ပြောမိ၏။ ၎င်း၏ စိတ်ထဲတွင် မင်းသားကလေး အင်ဒရေကလည်း ထိုစကားများကို ပြန်ပြောနေသည်ဟု ထင်၏။

နာတာရှာ သည် မင်းသားကလေး အင်ဒရေ၏ စကားများကို စိတ် ကူးဖြင့် ပြော ကြားနေမိသည်။

"နာတာရှာ ဒုက္ခက အစ်ကိုဒုက္ခနဲ့စာရင် ပင်လယ် သမုဒ္ဒရာကြီးနဲ့ နွားခြေရာ ခွက်လို ကွာခြားပါတယ် အစ်ကို။ မပြောပလောက်ပါဘူး။ နာတာရှာရဲ့ ဘဝမှာ အစ်ကိုက 'လွဲလို့ တခြား ဘာမှမရှိပါဘူးအစ်ကို။ ဒါ့ကြောင့် အစ်ကို နဲ့အတူ ဒုက္ခကို အတူတကွ ခံရခြင်းသည်ပင်လျှင် နာတာ ဂူအဖို့ အကြီးဆုံးသော ပျော်ရွှင်ခြင်း ဖြစ် ပါတယ်။ အကြီးဆုံးသော သုခ ဖြစ်ပါတယ် အစ်ကို"

မင်းသားကလေး အင်ဒရေသည် မကွယ်လွန်မီ လေးရက်ခန့်က နာတာရှာ၏ လက်ကလေးများကို ဆွဲ ယူ ဖျစ်ညှစ်နေသကဲ့သို့ ယခုလည်း ဖျစ်ညှစ်လျက် ရှိ သည်ဟု နာတာရှာ ထင်၏။ စိတ်ထဲမှာလည်း ယခင်က ခဲ့သော စကားများကို ယခုမှ ဖွင့်အရေး ဖင်အန်နေမိသည်။

"အစ်ကိုကို နာတာရှာ ချစ်ပါတယ် အစ်ကို။ နာတာရှာ အသည်းခိုက်အောင် ချစ်ပါတယ်"

နာတာရှာသည် လက်နှစ်ဖက်ကို ဖျစ်ညှစ်ကာ အံကို ကြိတ်၍ ဆို၏။

နာတာရှာသည် ရင်တလှိုက်လှိုက် ဖြစ်လာရာမှ မျက်ရည်များသည် စီးကျ လာကြသည်။ ထိုအခါကျမှ မိမိသည် ဤစကားများကို မည်သူ့အား ပြောဆိုနေ သနည်း။ မင်းသားလေး အင်ဒရေသည် ဤလူ့လောက ကြီးတွင် မရှိတော့ပြီ မဟုတ်လောဟူသော အသိတရား သည် ဝင်ရောက်လာကာ မင်းသားကလေး အင် ဒရေရှိရာ လူ့ဘဝ၏ ထိုမှာဘက်ကမ်းသို့ -အားစိုက်၍ မျက်မှောင် ကုတ်ကြည့်မိ ပြန်သည်။ ထိုအခါ၌ကား မိမိသည် လျှို့ဝှက် ဆန်းကြယ်၍ သိနိုင် - သိနားလည် ရန်ခက်သော ဘုံကြီး ထဲ၌ တဖြည်းဖြည်း နစ်မြုပ်ပျောက်ကွယ်သွားလေပြီဟု ထင် ရသည်။ ဤသို့ရှိစဉ်တွင် ကျောက်ခန် တံခါးဖွင့်သံ ကို ကြားလိုက်ရပြီးနောက် (ထို

အသံသည် နာတာရှာ၏ စိတ်၌ ကျယ်လောင်လွန်းလှသည်ဟု ထင်မိ၏။) အစေတော်ကြီး ဒွန်ယာရှာသည် ဣန္ဒြေကိုမျှ မဆည်နိုင်ဘဲ မျက်စိမျက်နှာပျက်လျက် ခန်းဆောင်ထဲသို့ ခပ်သုတ်သုတ် ဝင်လာ၏။

"သခင်မလေး၊ သခင်မလေး။ သခင်ကြီးက ခေါ် တယ်ဗျာ့။ သတင်းကတော့ မကောင်းဘူးဖျာ။ သခင်လေး ပီတာနဲ့ ပတ်သက်လို့ စာတစ်စောင် ရောက်လာတယ်ဖျာ"

အစေတော်ကြီးသည် ငိုရှိုက်၍ စကားကို အဆုံး သတ်လိုက်သည်။

# အခန်း ၂

နာတာရှာသည် ခန်းဆောင်ထဲတွင် အထီးကျန်ဖြစ်လျက် ရှိရုံမျှမက အိမ်သူအိမ်သားများကိုလည်း သူစိမ်းတစ်ရံ ဆန်များသဖွယ် သဘောထားလျက် ရှိလေသည်။ ဖခင် မြို့စားကြီး ရော့စတော့ဗ်၊ မိခင် မြို့စားကတော်ကြီးနှင့် ဆွန်ယာတို့ အားလုံးသည် နာတာရှာနှင့် အမြဲတစေ ထိ တွေ့ ဆက်ဆံနေရသူများဖြစ်ရာ ၎င်းတို့၏ အပြောအဆို စိတ်သဘောထားများသည် ကေစာကျင့်လျက်ရှိသော မိမိ၏အဖြစ်ကို နှောင့်ယှက်ဖျက်ဆီးလျက် ရှိသည်ဟု နာတာ ရှာ ယူဆမိသည်။ အစ ပထမ၌ နာတာရှာသည် ၎င်းတို့ အားလုံးကို ဥပေက္ခာပြုထားလိုက်သော်လည်း နောက်၌ ကား ၎င်းတို့အား မိမိ၏ ခံစားချက်များကို လှောင်ပြောင် လျက်ရှိသည့် ပြိုးသူရန်ဘက်ကြီးများသဖွယ် ထင်မှတ်လာခဲ့ သည်။ မောင်ငယ်ပီတာနှင့် ပတ်သက်၍ မကောင်းသတင်း ဟု အစေတော်ကြီး လာပြောသွားသော်လည်း နာတာရှာ - သည် အဓိပ္ပာယ်ကို ကောင်းစွာ နားမလည်သေးချေ။

“ဘာများ မကောင်းသတင်း ဖြစ်ရပြန်ပလဲ။ သူ တို့မှာ မကောင်းသတင်းရယ်လို့များ ရှိသေးလို့လား။ ဒီ လိုပဲ မသိလိုက် မသိဘာသာ အေးချမ်းနေတဲ့ သူတို့ဘဝမှာ မကောင်းသတင်းရယ်လို့ ဘာများရှိသေးလို့လဲ'နာ တာရှာသည် ဤသို့ တွေး၏။

ပွဲတက်ဆောင်ထဲသို့ နာတာရှာ ဝင်လာသောအခါ ၌ ဖခင် မြို့စားကြီး ရော့စတော့ဗ်သည် မြို့စားကတော် ကြီး၏ ခန်းဆောင်ထဲမှ သုတ်သီးသုတ်ပျား ထွက်လာ၏။ မြို့စားကြီးရော့စတော့ဗ်၏ မျက်နှာသည် မဲ့လျက်ရှိကာ မျက်လုံးတွင် မျက်ရည်များ စိုရွှဲလျက် ရှိသည်။ မြို့စား ကြီး ရော့စတော့ဗ်သည် မိမိ၏စိတ်ကို ထိန်းသိမ်းခြင်းငှာ မတတ်နိုင်တော့ဘဲ ရင်ထဲ၌ ရှိုက်၍ငိုချင်လာသဖြင့် ခန်း ဆောင် အပြင်သို့ ထွက်လာခဲ့ခြင်း ဖြစ်လေသည်။ နာတာ ရှာကို မြင်သည့်အခါ၌ မြို့စား ကြီး ရော့စတော့ဗ်သည် စိတ်ပျက်လက်ပျက်ဖြင့် လက်ခါပြပြီးနောက် ရှိုက်ကြီး တငင် ငိုလျက်ရှိလေရာ ၎င်း၏ ကြင်နာသနားတတ်သော မျက်နှာပျံ့ပျံ့ဝိုင်းဝိုင်းကြီး သည် ရှုံ့မဲ့လျက် ရှိပေ၏။

“ ပီတာ၊ ပီတာ။ သွား သွား၊ သမီးထွေးကို  မေဖျားခေါ်နေတယ်” မြို့စားကြီး ရော့စတော့ဗ်သည် ကလေးငယ်တစ်ယောက်သဖွယ် ငိုလျက်ရှိရာက ထိုင်ဖို့ တစ်လုံးပေါ်တွင် ထိုင်ချလိုက်ကာ မျက်နှာကို လက်ဝါးဖြင့် အုပ်ထားသည်။

ထိုအခါ နာတာရှာ၏ တစ်ကိုယ်လုံးသည် လျှပ် စစ်ဓာတ် စီးဝင်သွားသကဲ့သို့ တုန်လှုပ်သွား၏။ နှလုံး၌ ပြင်းစွာ နာကျင်ခြင်းကို ခံစားလိုက်ရ၏။ မိမိ၏ နှလုံးသား သည် ဆုတ်ဖြဲချေမွခြင်း ခံလိုက်ရသကဲ့သို့ နာကျင်ကိုက် ခဲကာ ချက်ချင်းပင် ဗုန်းဗုန်းလဲကျတော့မည်လောဟု ထင်လိုက်ရ၏။ သို့ရာတွင် ထို ဝေဒနာကြောင့် နာတာရှာ သည် လောကီကိစ္စများတွင် ဝင်ရောက် စွက်ဖက်ခြင်း မပြုဘဲ ကေစာကျင့်နေခြင်းမှ လွတ်မြောက်သည့်အဖြစ် သို့ ရောက်လာခဲ့ရပြန်

လေသည်။ ဖခင်မြို့စားကြီး ရော့ စတော့ဗ် ဖြစ်ပျက်နေပုံနှင့်တကွ ခန်းဆောင်ထဲမှ မိခင် မြို့စားကတော်ကြီး၏ တစာစာငိုကြွေးသံကို မြင်ရ ကြား ရသည့်အခါ၌ နာတာရှာသည် သူ့ကိုယ်သူ မေ့လျော့ကာ 'မိမိရင်တွင်း၌ ပရိဒေဝ သောကမီး တောက်လောင်လျက် ရှိခြင်းကိုလည်း မေ့ပျောက်သွားခဲ့လေပြီ။

နာတာရှာသည် ဖခင် မြို့စားကြီး ရော့စတော့ဗ် ထံသို့ ပြေးလာခဲ့၏။ သို့ရာတွင် မြို့စားကြီးရော့စတော့ဗ် က လက်ခါပြကာ မြို့စားကတော်ကြီး၏ ခန်းဆောင်ကို လက်ညှိုးထိုးပြလိုက်သည်။ မင်းသမီးလေးမေရီသည် မျက်နှာ ဖြူရော်ကာ နှုတ်ခမ်းများ တဆတ်ဆတ်တုန်လျက် မြို့စားကတော်ကြီး၏ ခန်းဆောင်ထဲမှ ထွက်လာပြီးသော် နာတာရှာ၏ လက်မောင်းကို ဆွဲ၍ တစ်စုံတစ်ခုကို ခပ် တိုးတိုး ပြောလိုက်၏။ နာတာရှာသည် မင်းသမီးလေး မေရီကို မြင်လည်းမမြင်၊ ၎င်း၏စကားများကို ကြားလည်း မကြားမိချေ။ နာတာရှာသည် ခန်းဆောင်ဆီသို့ ခပ်သုတ် သုတ်သွားကာ အားတင်းသည့်ဟန်ဖြင့် တံခါးဝတွင် ခေတ္တရပ်နေလိုက်ပြီးနောက် မိခင် မြို့စားကတော်ကြီးထံ သို့ ပြေးလာခဲ့၏။

မြို့စားကတော်ကြီးသည် ပက်လက်ထိုင်ဖုံတစ်ခု ပေါ်တွင် ခြေပစ်လက်ပစ် ထိုင်လျက်ရှိရင်းက ခေါင်းကို နံရံနှင့် ဆောင့်လျက် ရှိလေသည်။ ဆွန်ယာနှင့် အစေတော် များက လက်မောင်းကို ဖမ်းချုပ်ထားကြ၏။

“သမီးထွေး လာစမ်း၊ လာစမ်း။ သင်းတို့ မေ ဖျားကို မဟုတ်တာတွေ ပြောနေကြတယ်။ မဖြစ်နိုင်ဘူး။ မဖြစ်နိုင်ဘူး။ သွား ငါ့အနားတစ်ယောက်မှ မလာကြနဲ့။ တိုက်ပွဲသတဲ့။ ဟား၊ ဟား၊ ဟား။ တိုက်ပွဲကျသတဲ့”

မြို့စားကတော်ကြီးသည် အော်လျက်ရှိ၏။

နာတာရှာသည် ထိုင်ဖုံတွင် ဒူးတစ်ဖက်ထောက် လျက် မိခင်မြို့စားကတော်ကြီးကို ငုံ့၍ ဖက်ထား၏။ ( ထို့နောက် မိခင်မြို့စားကတော်ကြီးကို ထူမ၍ ပါးချင်း

အပ် ထားလိုက်သည်။

"မေဖျား၊ မေဖျား၊ သတိထားလေ။ သမီးထွေး ရှိတယ်" နာတာရှာက တတွတ်တွတ်ပြော၏။

နာတာရှာသည် မိခင် မြို့စားကတော်ကြီးကို အတင်းဖက်ထားရာမှ မှီအုံး တစ်လုံးနှင့် ရေနွေးတစ်ကရား အယူခိုင်းလိုက်ပြီးနောက် မြို့စားကတော်ကြီး၏ ဝတ်ရုံ ကြယ်သီးများကို ဖြုတ်လျက် အင်္ကျီကို ချွတ်ပေးနေသည်။

"မေဖျား၊ မေဖျား၊ သတိထားလေ" နာတာရှာ သည် ပါးစပ်မှ တဖွဖွရွတ် လျက် မိခင် မြို့စားကတော် ကြီး၏ ခေါင်းကို လည်းကောင်း၊ လက်ကို လည်းကောင်း၊ မျက်နှာကို လည်းကောင်း နမ်း၏။ ၎င်း၏ မျက်လုံးများ မှလည်း မျက်ရည်တွေ စီးကျလာလေသည်။

မြို့စားကတော်ကြီးသည် နာတာရှာ၏ လက်ကို ဖျစ်ညှစ်ထားရာက မျက်လုံးများကို မှိတ်၍ အတန်ကြာ ငြိမ်သက်သွားသည်။ ထို့နောက် ရုတ်ခနဲ ထ ထိုင်လိုက် ကာ ပတ်ဝန်းကျင်ကို ကြောင်ကြောင်ကြီး ကြည့်နေသည်။ နာတာရှာ ကို မြင်သောအခါတွင် နာတာရှာ၏ ခေါင်းကို ဖမ်းကိုင်ကာ လွတ်ထွက်သွားမည် စိုးသကဲ့သို့ အားကုန် ဖိထားသည်။ နာတာရှာမှာ နာကျင်လွန်းလှသဖြင့် မျက်စိ မှိတ်၍ ရှုံ့မဲ့လျက် ရှိလေသည်။ မြို့စားကတော်ကြီးသည် နာတာရှာ၏ မျက်နှာကို ဆွဲမော့၍ စိန်းစိန်းကြီး ကြည့် နေပြန်သည်။

"သမီးထွေး မေဖျားကို ချစ်ရဲ့လားဟင်။ မေဖျား ကို လိမ်မပြောနဲ့နော်။ မှန် မှန်ပြောစမ်း" မြို့စားကတော်ကြီး က ခပ်တိုးတိုး မေး၏။

နာတာရှာသည် မျက်ရည်ပြည့်လျှမ်းသော မျက်လုံး အစုံဖြင့် မိခင်မြို့စား ကတော်ကြီးကို ကြည့်၏။ နာတာရှာ ၏ အကြည့်မှာ ချစ်ခြင်းနှင့် ခွင့်လွှတ်ရန်

တောင်းပန် တိုးလျှိုးခြင်းကို ဖော်ပြသောအကြည့် ဖြစ်လေသည်။

"မေဖျား" နာတာရှာသည် မိခင်မြို့စားကတော် ကြီးကို ဖိစီးနှိပ်စက်လျက်ရှိသည့် သောကများကို ကိုယ် စားဝင်၍ ယူရန်ရှိသမျှ ချစ်ခြင်းမေတ္တာ အပြည့်အဝဖြင့် လှိုက်လှဲစွာ ခေါ်လိုက်သည်။

သို့ရာတွင် မြို့စားကတော်ကြီးမှာကား အညွန့် တလူလူတက်ဆဲ တိုက်ပွဲတွင် ကျဆုံးသွားသော သားငယ် ပီတာမရှိသည့်နောက်တွင် မိမိသည်လည်း ဤလောက ကြီးတွင် အသက်ရှင် ကျန်ရစ်တော့မည် မဟုတ်ဟု ထင် မှတ်လျက် သတိရနေရာမှ တစ်ဖန် ကယောင်ကတမ်း ပြောဆိုနေပြန်သည်။

ဤသို့ဖြင့် နာတာရှာအဖို့ ထိုနေ့ ထိုည၊ နောက် နေ့ နောက်ညများသည် မည်သို့မည်ပုံ ကုန်ဆုံးသွားသည် ကို ကောင်းစွာပင် မမှတ်မိတော့ချေ။ နာတာရှာသည် အိပ်လည်း မအိပ်၊ မိခင်မြို့စားကတော်ကြီး၏ အပါးမှ လည်း မခွာတော့ချေ။ နာတာရှာသည် မြို့စားကတော်ကြီး အား နှစ်သိမ့်အားပေးခြင်း မပြုတော့ဘဲ သတိလက်မလွတ် စေရန်သာ စိတ်စောလျက် ရှိလေသည်။ မြို့စားကတော်ကြီး၏အနီး၌ နာတာရှာ၏ သည်းခံနိုင်စွမ်းရှိသော အချစ်စိတ် သည် အမြဲတစေ စောင့်ကြပ်ဝန်းရံလျက် ရှိသည်ဟု ထင်ရပေ၏။

တတိယည့်၌ မြို့စားကတော်ကြီးမှာ အတန်ကြာ မျှ ငြိမ်သက်လျက် ရှိသည့်အလျောက် နာတာရှာသည် ထိုင်ဖုံလက်တင်တွင် ခေါင်းတင်ကာ မှေ့ခန်ပျော်သွား၏။ သို့ရာတွင် အိပ်ရာဘက်မှ တကျွိကျွိမြည်သံကြောင့် နာတာ ရှာသည် လန့်နိုးလာပြန်လေသည်။ မိခင်မြို့စားကတော်ကြီး သည် အိပ်ရာထက်တွင် ထိုင်ကာ တစ်ယောက်တည်း တိုးတိုးစကားပြောနေလေသည်။

"သားလေး၊ သားလေး ပြန်လာပြီနော်။ မေဖျား ဝမ်းသာလိုက်တာကွယ်။ ဪ၊ သားလေး ပင်ပန်းလာ သလား။ ဟုတ်မှာပေါ့။ သားလေး လက်ဖက်ရည်

သောက် မလား" . နာတာရှာသည် ခုတင်ဆီသို့ ထလာခဲ့သည်။

"ကြည့်စမ်း ထွားလာလိုက်တာ၊ နည်းတဲ့ကိုယ်လုံး ကိုယ်ထည်ကြီး မဟုတ်ဘူး။ တကယ့်ယောက်ျားကြီး ကျနေတာပဲ"

မြို့စားကတော်ကြီးသည် နာတာရှာ၏ လက်ကို ဖမ်းဆုပ်၍ တိုးတိုးပြောလျက် ရှိ၏။

"မေဖျား၊ မေဖျား။ ဘာတွေပြောနေတာလဲဟင်"

"ဟင်၊ သမီးထွေး၊ သမီးထွေး၊ မေဖျားရဲ့ သားလေး မရှိတော့ဘူး သမီးထွေးရဲ့။ သားလေး မရှိတော့ဘူး"

မြို့စားကတော်ကြီးသည် နာတာရှာကို ဖက်၍ ပထမဆုံးအကြိမ် စတင်ငိုကြွေးခြင်း ပြုလေသည်။

# အခန်း ၃

မင်းသမီးလေးမေရီသည် ' မော်စကိုသို့ ပြောင်းရွှေ့မည့် အစီအစဉ်ကို ဆိုင်းထားလိုက်၏။ မြို့စားကြီး ရော့စတော့ဗ် နှင့် ဆွန်ယာတို့သည် မြို့စားကတော်ကြီး စိတ်ပြေ လက်ပျောက် ဖြစ်လိုဖြစ်ငြား နာတာရှာကို မိခင်အပါး တွင်နေစေသော်လည်း အချည်းနှီးသာ ဖြစ်လေသည်။ ၎င်းတို့အထင်၌ မြို့စားကတော်ကြီးကို အကျိုးမဲ့ ပူဆွေး သောကရောက်ခြင်းမှ တားဆီးနိုင်သူမှာ နာတာရှာတစ်ဦးတည်းသာ ရှိသည်ဟု ထင်၏။ နာတာရှာသည်လည်း ရက်သတ္တသုံးပတ်မျှ မိခင်မြို့စားကတော်ကြီးအနီးမှ တစ်ဖဝါးမှမခွာဘဲ စောင့်ကြည့်၏။ အိပ်လျှင်လည်း အနီး ရှိ ပက်လက်ထိုင်ဖုံးတွင် အိပ်သည်။ မြို့စားကတော်ကြီး ကို ကိုယ်တိုင်အစာကျွေးခြင်း၊ ရေတိုက်ခြင်းတို့ကို ပြု သည်။ မိမိ၏ ချိုသာနူးညံ့သော ချော့မော့

နှစ်သိမ့်သံသာ လျှင် မိခင်မြို့စားကတော်ကြီး၏ စိတ်သက်သာခြင်းကို ဖြစ်စေသည့်အတွက် အပါးမှ ထိုင်၍ စကားစမြည်ပြောနေ တတ်သည်။

သို့သော်လည်း မိခင်မြို့စားကတော်ကြီး၏ စိတ် အနာသည် မကျက်တော့ချေ။ ပီတာ သေဆုံးခြင်းသည် မြို့စားကတော်ကြီး၏ ဘဝကို တစ်ဝက်ခွဲ၍ ယူသွားခဲ့ လေပြီ။ ပီတာ သေဆုံးကြောင်းကို ကြားရသည့်အချိန်၌ မြို့စားကတော်ကြီးသည် ကျန်းမာသန်စွမ်း၍ လန်းဆန်း လျက်ရှိသေးသော အသက်ငါးဆယ်ရွယ် မိန်းမကြီးတစ်ဦး ဖြစ်၏။ သို့ရာတွင် တစ်လကြာ၍ ခန်းဆောင်အပြင်သို့ ထွက်လာသည့်အခါ၌ကား လောကီကိစ္စများကို စိတ်မဝင် စားတော့သော သတိအယွင်းယွင်း အချွတ်ချွတ် ဖြစ်လျက် ရှိသည့် အဘွားအိုကြီးတစ်ယောက် ဖြစ်လာခဲ့လေပြီ။ သို့သော်လည်း မြို့စားကတော်ကြီးကို မသေရုံတစ်မည်သာ  ကျန်ရစ်ခဲ့အောင် ရိုက်ပုတ်ခဲ့သည့် လောကဓံတရား၏ ဤရိုက်ပုတ်ချက်ကြီး။ ထိုဒုတိယ ရိုက်ပုတ်ချက်ကြီးသည် နာတာရှာကိုကား ပြန်လည် ရှင်သန်လာအောင် မြေတောင်မြှောက်ပေးလိုက်သကဲ့သို့ ရှိလေသည်။

စိတ်ခန္ဓာကြီး ကျိုးပဲ့ပျက်စီးသွားခြင်းကြောင့် ဖြစ် ပေါ်လာသောစိတ်၏ အနာသည် ရုပ်ခန္ဓာကိုယ်၏ အနာ နှင့် တူပေသည်။ ခန္ဓာကိုယ်ပေါ်မှ နက်သော ဒဏ်ရာတစ်ခု သည် အချိန်တန်သောအခါ၌ ကျက်စပြုလာကာ အနာဝ သည် တဖြည်းဖြည်း ပိတ်သွားနိုင်သည်သာ ဖြစ်၏။ စိတ်၏ အနာသည်လည်း ထိုနည်းအတူပင် ဖြစ်လေသည်။ သို့ရာတွင် ကိုယ်၌ဖြစ်သော အနာဖြစ်စေ၊ စိတ်၌ဖြစ်သော အနာဖြစ်စေ “အသားနုတက်ခြင်း´တည်းဟူသော အတွင်း မှ အသက်ဓာတ်အား၏ ရှင်သန်နိုးကြားခြင်းဖြင့်သာ ပျောက်ကင်းနိုင်ပေသည်။

နာတာရှာ၏ စိတ်အနာသည် ဤနည်းဖြင့် ကျက် • လာခဲ့၏။ မင်းသားကလေး အင်ဒရေ ဆုံးပြီးသည့်နောက် ၌ မိမိ၏ ဘဝသည် ဆုံးခန်းတိုင်သို့ ရောက်

ခဲ့လေပြီဟု နာတာရှာ ထင်ခဲ့၏။ သို့ရာတွင် မိခင်မြို့စားကတော်ကြီး အပေါ်၌ ဖွံ့ နှောင်အပ်သော ချစ်ခြင်းမေတ္တာသည် တစ်မှ ဟုတ်ချင်း ပြန်လည်ပေါ်ပေါက်လာခဲ့ လေရာ (ချစ်ခြင်း "မေတ္တာတည်းဟူသော) လူ့ဘဝ၏အနှစ်သည် ခန္ဓာကိုယ် တွင်း၌ လည်ပတ်လှုပ်ရှားလာပြန်သည်။ ချစ်ခြင်းမေတ္တာ သည် ရှင်သန်နိုးကြား လာသည်၌ ဘဝသည်လည်း ရှင်သန် နိုးကြားလာလေတော့သည်။

• နာတာရှာနှင့် မင်းသမီးလေးမေရီတို့သည် မင်းသား ကလေးအင်ဒရေ ကွယ်လွန်ခါနီးတွင် တစ်ဦးနှင့်တစ်ဦး ပို၍ ရင်းနှီးလာခဲ့ကြ၏။ ယခုတစ်ဖန် ပီတာ ကွယ်လွန် သည့်အခါ၌ကား ထိုရင်းနှီးမှုသည် ပို၍ ခိုင်မာလာပြန်ပေ သည်။ မင်းသမီးလေးမေရီသည် မော်စကိုသို့ ပြောင်းရွှေ့ရန် ကိစ္စကို ဆိုင်းထားလိုက်ပြီး နောက် ရက်သတ္တသုံးပတ်မျှလုံး ကလေးသူငယ်တစ်ဦးကို ပြုစုစောင့်ရှောက် သည့်နှယ် နာ တာရှာကို ကြည့်ရှုစောင့်ရှောက်လျက်ရှိလျက် ရှိ၏။ ယခု အချိန်၌ နာတာရှာမှာ မိခင်မြို့စားကတော်ကြီး၏ အပါး တွင် မအိပ်မနေ ပြုစုစောင့်ရှောက် ခဲ့ရခြင်းကြောင့် သိသိ သာသာကြီး ချုံးကျသွားခဲ့လေပြီ။

တစ်ညနေ၌ မင်းသမီးလေးမေရီသည် နာတာရှာ  တစ်ယောက် ခိုက်ခိုက်တုန်၍ အဖျားတက်လျက် ရှိခြင်းကို မြင်သည်၌ နာတာရှာကို မိမိ၏ ခန်း ဆောင်သို့ တွဲခေါ်လာ ခဲ့ကာ အိပ်ရာပေါ်တွင် လှဲစေ၏။ နာတာရှာသည် အိပ်ရာ တွင် လှဲ၏။ သို့ရာတွင် မင်းသမီးလေးမေရီက ကန့်လန့် ကာများကို ဆွဲစေ့ပြီး နောက် ခန်းဆောင်အပြင်သို့ ပြန်ထွက် မည်အပြု၌ နာတာရှာသည် မင်းသမီးလေး မေရီကို လှမ်း ခေါ်လိုက်မိသည်။

"မအိပ်ချင်ဘူး အစ်မတော်ထိပ်ထား။ နာတာရှာ အနား ခဏလောက်ထိုင်ပါ လား"

"ညီမ ပင်ပန်းလှပါပြီကွယ်။ အိပ်ပါတော့လား"

"မအိပ်ချင်သေးဘူး အစ်မတော်။ ဘာဖြစ်လို့ အစ်မတော် ထိပ်ထားရဲ့ ခန်းဆောင်ထဲ ခေါ်လာတာလဲ ဟင်။ မေဖျားမေးနေလိမ့်မယ်ထင်တယ်" ။

"အရီးတော် သက်သာသွားပါပြီကွယ်။ ကိစ္စမရှိ တော့ပါဘူး။ သတိမလွတ်ဘဲ စကားကောင်းကောင်းပြော နိုင်နေပြီပဲ"

နာတာရှာသည် အိပ်ရာထက်တွင် လှဲလျက် အမှောင်တစ်ဝက် အလင်းတစ်ဝက်ထဲ၌ မင်းသမီးလေး မေရီ၏ မျက်နှာကို ကြည့်လျက်ရှိ၏။

"အစ်မတော်ထိပ်ထားဟာ အစ်ကိုလိုပဲလား" ဟု နာတာရှာ တွေးမိ၏။ "ဟုတ်တယ် အစ်ကိုနဲ့တူတဲ့အချက် တွေလဲရှိတယ်။ မတူတဲ့ အချက်တွေလဲ ရှိတယ်။ ဒါပေမဲ့ အစ်မတော်ထိပ်ထားက သိပ်ပြီး ကျမ်းတတ်စာတတ်ရှိဟန် မတူဘူး။ ကိုယ်ပိုင်အတွေး ရှိတယ်။ ထူးဆန်းတယ်။ နားလည်ဖို့ ခက်တယ်။ အစ်မတော်ထိပ်ထားဟာ ငါ့ကို ချစ်ရှာသားပဲ။ အစ်မတော်ရဲ့ နှလုံးသားထဲမှာ ဘယ်လိုများနေပါလိမ့်။ စိတ်သဘောကောင်းတာတွေချည်းပဲ ရှိလေ မလား။ အစ်မတော်ရဲ့ စိတ်ထားကကော ဘယ်လိုလဲ။ ငါ့ကို ဘယ်လိုများထင်သလဲ။ ဟုတ်ပါတယ်လေ။ အစ်မ တော် ထိပ်ထားဟာ စိတ်ကောင်း နှလုံးကောင်းရှိသူ တစ်

"အစ်မတော်ထိပ်ထား" နာတာရှာသည် မင်းသမီး ကလေးမေရီ၏လက်ဆွဲ၍ မရဲတရဲခေါ်လိုက်၏။ "အစ်မ တော်ထိပ်ထား နာတာရှာ့ကို စိတ်နှလုံးမကောင်းတဲ့ မိန်းကလေးတစ်ယောက်လို့ မထင်လိုက်ပါနဲ့နော်။ မထင် ဘူး မဟုတ်လားဟင် အစ်မတော်ထိပ်ထား။ နာတာရှာ လေ အစ်မတော် ထိပ်ထားကို သိပ်ချစ်တာပဲ။ နာတာရှာတို့ နှစ်ယောက် တကယ့်မိတ်ဆွေရင်းချာတွေအဖြစ် နေကြရအောင်နော်။ နော် အစ်မတော်ထိပ်ထား"

နာတာရှာသည် မင်းသမီးလေး မေရီကိုဖက်၍ မျက်နှာနှင့်လက်များကို နမ်းရှုပ်၏။ မင်းသမီးလေးမေရီ သည် ရှက်သလိုလိုရှိသော်လည်း နာတာရှာက

၎င်း၏ အချစ်ကို ဤသို့ ပြလိုက်သောအခါတွင် ကြည်နူးလျက်ရှိ လေသည်။

ထိုနေ့မှစ၍ မိန်းမများ အချင်းချင်းကြား၌သာ ဖြစ်ပေါ်တတ်သော နူးညံ့ ပြင်းထန်သော အချစ်စိတ်တစ်မျိုး သည် မင်းသမီးလေး မေရီနှင့် နာတာရှာတို့ နှစ်ဦး၏ကြား ၌ ပေါ်ပေါက်လာခဲ့လေသည်။ ယင်းတို့နှစ်ဦးသည် တစ်ဦး နှင့်တစ်ဦး အမြဲတမ်းပွေ့ဖက်နမ်းရှုပ်လျက်၊ ချိုသာနူးညံ့ သော စကားများကိုဆိုလျက် မခွဲနိုင် မခွာရက်လောက် အောင် တပူးတွဲတွဲဖြစ်လျက် ရှိကြလေသည်။ တစ်ယောက် မရှိလျှင် တစ်ယောက်က မနေတတ် မထိုင်တတ်အောင် ဖြစ်ကာ နောက်က တကောက်ကောက်လိုက်နေတတ် သည်။ ၎င်းတို့နှစ်ဦးစလုံးအဖို့၌ မိမိ တစ်ယောက်တည်း နေလျှင် သင့်တင့်ညီညွတ်ခြင်း ရှိချင်မှ ရှိဦးမည်။ ယခု ကဲ့သို့ နှစ်ယောက် အတူနေရခြင်းကား တစ်ယောက်တည်း နေရသည်ထက်ပင် သင့်တင့် ညီညွတ်လျက်ရှိသည်ဟု ထင် လျက်ရှိကြလေသည်။ မိတ်ဆွေရင်းချာသဘော ထက် သာ လွန်သော ခံစားမှုမျိုးသည် ၎င်းတို့ရင်းတွင်း၌ ပေါပေါက် လာခဲ့ကြလေ သည်။ ထိုခံစားချက်မှာ အခြားမဟုတ်။ ၎င်း တို့၏ ဘဝသည် နှစ်ဦးပေါင်းထားမှ သာ ဘဝအဖြစ် လုံးဝ ပြည့်စုံမည်ဟူသော ခံစားချက်ပင် ဖြစ်လေသည်။ . တစ်ခါတစ်ရံ၌ ၎င်းတို့နှစ်ဦးသည် နာရီပေါင်းများ စွာ ငြိမ်သက်မောနေတတ်ကြ လေသည်။ တစ်ခါတစ်ရံ၌ လည်း အိမ်ရာထဲဝင်သည့် အချိန်မှစ၍ နံနက်မိုးစင်စင် လင်း သည်အထိ စကားအမျှင်မပြတ် ပြောကြသည်။ အများအား ဖြင့်ကား ငယ် ငယ်တုန်းက အကြောင်းများကိုသာ ပြောလေ့ ရှိကြ၏။ မင်းသမီးလေးမေရီက ၎င်း ငယ်ငယ်က နေထိုင် ခဲ့ရပုံနှင့်တကွ ခမည်းတော် မင်းသားကြီးအကြောင်း၊ မယ်တော်အကြောင်း၊ ၎င်း၏ စိတ်ကူးမျှော်မှန်းချက်များ အကြောင်းကို ပြောပြ တတ်၏။ ထိုအခါတွင် နှိမ့်ချခြင်း၊ ရိုကျိုးခြင်း၊ ချစ်ခင်ခြင်း၊ ခရစ်ယာန်သာသနာ တော်၏ အဆုံးအမဖြစ်သော ကိုယ်ကျိုးမငဲ့ခြင်း စသည့်တရားများမှ အတန်ကြာ ဝေးနေခဲ့သော နာတာရှာသည် မင်းသမီးလေး . မေရီအား ချစ်ခင်ကြင်နာခြင်း

တည်းဟူသော မေတ္တာ၏ ( အဟုန်ဖြင့် မင်းသမီးလေးမေရီ၏ ငယ်စဉ်က ဘဝကို ပါ မြတ်နိုးရကောင်းမှန်း သိလာခဲ့လေပြီ။ မိမိသိနားလည်ခြင်း မရှိခဲ့သောဘဝ၏ အခြားဘက်တစ်ဖက်ကို နားလည်ရ ကောင်းမှန်း သိလာခဲ့လေပြီ။ ယခင်က နာ တာရှာသည် အခြားပျော်ရွှင်မှုမျိုးလောက်ကိုသာ နားလည်ခဲ့သည့် အတွက် ရိုးကျိုး နှိမ့်ချခြင်း၊ ခွင့်လွှတ်ခြင်း၊ အနစ်နာခံခြင်းတို့ ကြောင့် ဖြစ်ပေါ်လာသော ပျော်ရွှင် ချမ်းမြေ့ခြင်းကို နား " မလည်ခဲ့ချေ။ စာနာထောက်ထားရ ကောင်းမှန်းလည်း မသိ ခဲ့ချေ။ ယခုသော် နာတာရှာသည် ထိုအရည်အချင်း များကို နားလည်ခဲ့လေပြီ။ ဤသို့သော အရည်အချင်းများ ကို နှစ်သက်မြတ်နိုးရကောင်းမှန်း သိလာခဲ့လေပြီ။ မင်းသမီး လေးမေရီအဖို့၌လည်း နာတာရှာ၏ ငယ်စဉ်တောင်ကျေး က အဖြစ်အပျက်များနှင့် လူလားမမြောက်တမြောက် အရွယ်က အဖြစ်အပျက်များကို ကြားပြီးသည်၏အဆုံး၌ ( ယခင်က မိမိနားလည်ခဲ့ခြင်းမရှိသော ဘဝ၏ အခြား ဘက် ( တစ်ဖက်ကို နားလည်လာခဲ့လေပြီ။ လူ့ဘဝကြီးကို ယုံကြည် ( သက်ဝင် ခြင်း၊ လူ့ဘဝကြီး၏ ရိပ်ငြိမ်ချမ်းသာကို ခံစား တတ်ခြင်း စသည့် အရည်အချင်းများ ကို နှစ်သက်မြတ်နိုး ရကောင်းမှန် သိမြင်လာခဲ့လေပြီ။

သို့သော်လည်း ၎င်းတို့နှစ်ဦးသည် ယခင်ကကဲ့သို့ ပင် သူ့အကြောင်းကိုကား မပြောကြချေ။ (၎င်းတို့၏ အထင်၌) သူနှင့်ပတ်သက်၍ ၎င်းတို့နှစ်ယောက်၏ ရင် ထဲ ၌ ဖြစ်ပေါ်နေသော ခံစားချက်များကို စကားဖြင့် ထုတ် ဖော်ပြောဆိုခြင်းသည် ထိုခံစားချက်များ၏ ကြီးမားခြင်း ကို သေးငယ်ယုတ်ညံ့အောင် ပြုရာရောက်သည် ဟု ထင်ကြ ၏။ သို့ရာတွင် ဤသို့ သူ့အကြောင်းကို တစ်ခွန်းတစ်ပါဒ မျှ မပြောဘဲ နေကြခြင်းဖြင့် သူ့ကို တဖြည်းဖြည်း မေ့မေ့ ပျောက်ပျောက်ဖြစ်စပြုလာခြင်းကိုမူ ၎င်းတို့ သတိမထား မိကြချေ။

နာတာရှာမှာ ပိန်ချုံးကာ အသားအရေ ဖြူရော်စ ပြုလာခဲ့လေသည်။ နာတာ ရှာ၏ ကျန်းမာရေး အခြေအနေ မှာ ဤသို့ဖြင့် တဖြည်းဖြည်းဆုတ်ယုတ်စ ပြုလာ

ရကား တစ်အိမ်လုံးကပင် နာတာရှာ၏ ကျန်းမာရေးကို ဂရုတစိုက် ပြောဆိုကြ၏။ နာတာရှာကမူ ဤသို့ မိမိ၏ ကျန်းမာရေး ကို အရေးတယူလုပ်၍ ပြောဆိုခြင်းအတွက် ကျေနပ်မိသေး ၏။ သို့ရာတွင် တစ်ခါတစ်ရံလည်း နာတာရှာသည် သေခြင်းတရားကိုမျှသာမက နာမကျန်းဖြစ်ခြင်း၊ အားအင် ဆုတ်ယုတ်ခြင်း၊ အလှပျက်ခြင်းတို့ကို ကြောက်ရွံ့စိုးရိမ် ခြင်းလည်း ဖြစ်ပေါ်လာမိလေသည်။ ထိုအခါများ၌ နာတာ ရှာသည် ဗလာကျင်းလျက်ရှိသော မိမိ၏ လက်မောင်း များကို အမှတ်မထင် ကြည့်မိရာက ၎င်းတို့၏ သေးကွေး ကြုံလှီခြင်းကို တွေ့ရသည်တွင် အံ့သြခြင်း ဖြစ်မိသည်။ နံနက် အိပ်ရာထ၌လည်း ချောင်ကျလျက်ရှိသော မျက်နှာကို မှန်ထဲတွင် သတိပြုမိသည်။ (၎င်း၏ မျက်နှာသည် ယခုလို ချောင်ကျလျက် ရှိစဉ်တွင် သနားစရာကောင်း သည်ဟု စိတ်တွင် ထင်မိပါသေးသည်။) လောက၌ ရှိရှိသမျှသော အရာတိုင်းသည် ဝမ်းနည်းစရာကောင်းသည် မှန်သော်လည်း တစ်နေ့တွင် ဤသို့ပင် ဖြစ်ရတော့မည် ဟု ဆင်ခြင်မိလေသည်။

တစ်နေ့သ၌ နာတာရှာသည် အိမ်ပေါ်ထပ်လှေ ကားသို့ ပြေးတက်လာခဲ့သည်တွင် အသက်ရှူ၍ မရ လောက်အောင် ရင်ထဲ၌ မွန်းကျပ်လျက် ရှိသည့် ဝေဒနာကို ခံစားလိုက်ရ၏။ နာတာရှာသည် ထိုအချက်ကို သတိမပြု မိသေးဘဲ အကြောင်းတစ်ခုရှာကာ အောက်ထပ်သို့ ဆင်း ခဲ့ပြီးမှ မိမိ၏ အားကို စမ်းသပ်သည့်သဘောဖြင့် လှေ ကားသို့ ပြေးတက်ခဲ့ပြန်သည်။ ထိုအချိန်၌ကား အသက်ရှူး၍ မဝအောင် ဖြစ်နေခြင်းကို သတိပြုမိခဲ့လေပြီ။

တစ်ခါ၌လည်း နာတာရှာသည် အစေတော်ကြီး ဒွန်ယာရှာကို အော်ခေါ်သည့်အခါ၌ အသံတုန်လျက် ရှိ ခြင်းကို သတိပြုလိုက်မိ၏။ ထို့ကြောင့် သူ မကျေနပ် သေးဘဲ ဒွန်ယာရှာ လာနေပြီကို သိလျက်နှင့် ထပ်၍ အော်ခေါ်ပြန်သည်။ ယခင်က သီချင်းဆိုခဲ့စဉ်က အသံ မျိုးရအောင် ရင်တွင်းမှလှိုက်၍ အသံကို ညှစ်အော်လိုက် ပြီးနောက် ကိုယ့်အသံကို ကိုယ်သတိထား နားထောင်၍ ကြည့်၏။

နာတာရှာသည် ထိုအချက်ကို သိကောင်းမှသိ၍ ယုံကောင်းမှ ယုံမည်ဖြစ်သော်လည်း ၎င်း၏ ဝိညာဉ်ကို ဖုံးအုပ်လျက်ရှိ၍ ထိုးဖောက်မရနိုင်ဟု ထင်ရသော (သောက တည်းဟူသော) အပေါ်ယံမြေလွှာအောက်၌ကား စိမ်းစို နူးညံ့သော အညွန့်အညှောက်တို့ တလူလူပြူထွက်လာခဲ့ကြ လေပြီ။ ထိုအညွန့်အညှောက်တို့သည် အမြစ်သွယ်ကာ နာတာရှာကို ဖိစီးနှိပ်စက်လျက်ရှိသည့် သောကပရိဒေဝတို့ကို ဆက်လက်ညွန့်ရှင်တို့ဖြင့် ဖုံးလွှမ်းသွားစေတော့မည် - သာ ဖြစ်လေသည်။ ထိုအခါ၌ နာတာရှာ၏ သောကတို့ သည် ထိုအညွန့်အညှောက်များအောက်တွင် ပျောက်ကွယ် သွားကြလေတော့မည်။ နာတာရှာ၏ စိတ်ဒဏ်ရာသည် ကျက်စပြုလာခဲ့လေပြီ။ ၊ ဇန်နဝါရီလကုန်၌ မင်းသမီးလေးမေရီသည် မော် စကိုမြို့သို့ ပြောင်းရွှေ့လာခဲ့လေရာ မြို့စားကြီး ရော့ စတော့ဗ်သည် သမားတော်များကို ပြသရန်အတွက် သမီး ထွေးနာတာရှာကို မင်းသမီးလေးမေရီနှင့်အတူ ထည့်လိုက် လေသည်။

# အခန်း ၄

ရုရှားစစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ဗျာဇမာသို့ အရောက်၌ ရန်သူများကို စုပြုံ ထိုးနှက်၍ လက်ရဖမ်းဆီး ရန်၊ ရန်သူတို့ကို ဖြတ်တောက်ရန် ပြင်းစွာ စိတ်အား ‘ထက်သန်လျက်ရှိသော ၎င်း၏တပ်များကို ထိန်းသိမ်း တားဆီးခြင်းငှာ မတတ်နိုင်တော့ချေ။ သို့ရာတွင် ဗျာဇမာ တိုက်ပွဲပြီးသည့်နောက်၌ကား ထွက်ပြေးလျက်ရှိသော ပြင်သစ်စစ်တပ်ကြီးနှင့် နောက်ကလိုက်လာသော ရုရှား စစ်တပ်ကြီးတို့သည် တိုက်ပွဲတစ်ပွဲမျှ ဆက်၍ ဖြစ်ပွား ခြင်း မရှိတော့ဘဲ ကရပ်စနိုသို့ ရောက်လာခဲ့ကြလေ သည်။ ပြင်သစ်တို့၏ ထွက်ပြေးပုံမှာ နှုန်းထား လျင်မြန်လွန်းသည့်အတွက် နောက်က လိုက်လျက်ရှိသော ရုရှား စစ်တပ်ကြီးသည် ပြင်

သစ်စစ်တပ်ကြီးကို မမီနိုင်တော့ချေ။ . ရုရှားမြင်းတပ်နှင့် အမြောက်တပ်မှ မြင်းများသည် လမ်း ၌ အတုံးအရုံး လဲကျသေဆုံးခဲ့ကြလေသည်။ ပြင်သစ်တို့ ၏ လှုပ်ရှားမှုနှင့် ပတ်သက်သော သတင်းများမှာလည်း မည်သည့်အခါမျှ ခိုင်လုံခြင်းမရှိချေ။

"တစ်နေ့လျှင် နှစ်ဆယ့်ခုနစ်မိုင်နှုန်းဖြင့် အပြင်း ချီတက်ခဲ့ရသော ရုရှားတပ်သားများမှာလည်း စစ်ပန်း လျက်ရှိလေပြီ။ ၎င်းတို့မှာ အားအင်ကုန်ခန်း နွမ်းနယ် လျက်ရှိပြီ ဖြစ်ရကား ထိုထက်ခရီးပေါက်ရန်လည်း မတတ် နိုင်တော့ပြီ။

တာရူတီနိုတိုက်ပွဲပြီးသည့်အချိန်၌ ရုရှားစစ်တပ် ကြီး၏ အဆုံးအရှုံးမှာ ကျဆုံး ဒဏ်ရာရသူအပေါင်း ငါးထောင်ခန့်နှင့် သုံ့ပန်းအဖြစ် အဖမ်းခံရသူပေါင်း တစ်ရာ မဲ့မဲ့မျှသာ ဖြစ်၍ ထိုမှ ရှေ့သို့ ဆက်လက်ချီတက်လာ သောအခါတွင် တပ်သား တစ်သိန်း ရှိခဲ့သေး၏။ သို့သော် ကရပ်စနိုသို့ ရောက်သည့်အချိန်တွင်မူ ငါးသောင်းမျှသာ ကျန်ခဲ့လေပြီ။ ဤအချက်ကို ကြည့်ခြင်းဖြင့် ရုရှားစစ်တပ် ကြီးသည် (တာရူတီနိုနှင့် ကရပ်စနိုကြားတွင် တိုက်ပွဲ တစ်ပွဲမျှ မတိုက်ရဘဲနှင့်ပင်) မည်မျှ အားအင်ကုန်ခန်း နွမ်းနယ်လျက် ရှိကြောင်းကို သိနိုင်ပေသည်။ ၊ ပြင်သစ်တို့ ဆုတ်ခွာထွက်ပြေးခြင်းသည် ၎င်းတို့ ၏ ပျက်စီးခြင်းကိုသာ ဖြစ်စေသကဲ့သို့ ရုရှားတို့၏အရှိန် ပြင်းလှသော လိုက်လံတိုက်ခိုက်မှုသည်လည်း ရုရှားစစ်တပ် ကြီး၏ ပျက်စီးခြင်းကိုသာ ဖြစ်စေခဲ့ပေရာ အကျိုးသက် ရောက်မှု၌ကား အတူတူပင် ဖြစ်ပေသည်။ ခြားနားချက် မှာ ပြင်သစ်တို့က နောက်က အန္တ ရာယ်ကြောင့် ထွက်ပြေးရခြင်းနှင့် ရုရှားတို့က နောက်ကအန္တ ရာယ်မရှိဘဲ ချီ တက်ရခြင်း၊ နာမကျန်းဖြစ်သော ပြင်သစ်တို့အဖို့ ရန်သူ့ လက်တွင်းသို့ သက်ဆင်းရခြင်းနှင့် နာမကျန်းဖြစ်သော ရုရှားတို့အဖို့ မိမိတို့၏ တိုင်းသူပြည်သားများလက်တွင် ၊ နေရစ်ခဲ့ရခြင်းတို့သာလျှင် ဖြစ်ပေသည်။ နပိုလီယန်၏ စစ်တပ်ကြီး အချည်းနှီးအကျိုးမဲ့ ပျက်စီးရခြင်း၏ အဓိက အကြောင်းရင်းမှာ ထိုစစ်တပ်ကြီး၏ လှုပ်ရှားမှု လျင်မြန်

ခြင်းပင်ဖြစ်ရာ ဤအချက်မှန်ကြောင်းကို နောက်မှ လိုက်လံ တိုက်ခိုက်သော ရုရှား စစ်တပ်ကြီး၏ အလားတူ ပျက်စီး ခြင်းကလည်း သက်သေပြလျက် ရှိပေသည်။

ပီတာစဘတ် ရွှေနန်းတော်ကြီးနှင့် ရုရှားတပ်မှူး၊ ဗိုလ်ချုပ်များ၏ ဆန္ဒမှာ ပြင်သစ်စစ်တပ်ကြီး၏ လှုပ်ရှား မှုကို လမ်းမှ ပိတ်ဆို့ရန် ဖြစ်သော်လည်း ရုရှားစစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် ထိုသို့ ပိတ်ဆို့ရန် ကြိုးစား ခြင်းမပြုခဲ့ချေ။ ပိတ်ဆို့ရန် ကြိုးစားခြင်း မပြုရုံမျှမက (ဗျာဇမာနှင့် တာရူတီနိုဒေသများတွင် ပြုလုပ်ခဲ့သကဲ့သို့) ပြင်သစ်စစ်တပ်ကြီး၏ လှုပ်ရှားမှုကို မြန်သည်ထက်မြန် အောင် ရုရှားစစ်တပ်ကြီး၏ လှုပ်ရှားမှုကို နှေးသည်ထက် အောင်သာ အစွမ်းကုန် ပြုလုပ်ခဲ့လေသည်။  စစ်သေနာပတိချုပ် ကူတူဇော့ဗ်က ရန်သူစစ်တပ် ကြီး၏ လှုပ်ရှားမှုကို ပိတ်ဆို့မှုမပြုခဲ့ခြင်း၊ ရုရှားတပ်များ ၏ ချီတက်မှုကို နှေးကွေးစေခဲ့ခြင်းမှာ ချီတက်မှုနှုန်းထား လျင်မြန်သည့်အလျောက် မိမိ၏ တပ်များ စစ်ပန်းလျက် ရှိခြင်း၊ အဖိတ်အစဉ်များခြင်းတို့ကြောင့် ဖြစ်ပေသည်။ ထို့ပြင် အခြားအခြားအကြောင်း တစ်ရပ်လည်း ရှိသေး၏။ ရုရှားစစ်တပ်ကြီး၏ အဓိကရည်ရွယ်ချက်မှာ ပြင်သစ်တို့ကို လိုက်လံမောင်းနှင်ထုတ်ရန် ဖြစ်၏။ ပြင်သစ်တို့မည်သည့် လမ်းက ဆုတ်ခွာမည်ဆိုသည့် အချက်ကို ရုရှားတို့ သေ ချာစွာ မသိရချေ။ ထို့ကြောင့် ၎င်းတို့ နောက်သို့သာ ဖဝါးခြေထပ် ထက်ကြပ်လိုက်၍ နေရမည်ဆိုလျှင် မဆုံး နိုင်အောင် သံသရာရှည်၍ နေမည်သာဖြစ်၏။ နောက် ခပ်လှမ်းလှမ်းမှ လိုက်ပါလာခြင်းဖြင့်သာလျှင် ကွေ့ကောက် လျက်ရှိသော ပြင်သစ်တို့၏ စစ်ဆုတ်လမ်းကို ဖြတ်လမ်းမှလိုက်နိုင်သော အခွင့်အရေးရမည်ဖြစ်၏။ ရုရှားတပ်မှူး၊ ဗိုလ်ချုပ်များ တင်ပြသော ပရိယာယ်ကြွယ်ဝလှသည့် စစ်ကစားမှုများ အတိုင်းသာ လှုပ်ရှားရမည်ဆိုလျှင် ရုရှား စစ်တပ်ကြီးသည် နောက်ထပ် လှုပ်ရှားမှုသစ်များကို ပြု လုပ်ရဦးမည်သာမက ထိုထက် ရှည်လျားသော ချီတက် မှုများကိုလည်း ပြုလုပ်ရဦးမည်သာ ဖြစ်လေသည်။ ထို အချိန်၌ ရုရှားစစ်တပ်ကြီးအဖို့ အလိုအပ်ဆုံးဖြစ်သော အရာ

ကား ပြင်သစ်တို့ကို အတိုဆုံး လမ်းမှ ဖြတ်၍ လိုက် ရန် ဖြစ်လေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် မော်စကိုမှသည် ဗီလနာအထိ တိုက်ပွဲစဉ် တစ်လျှောက် လုံး၌ ထိုအတိုင်း ဆောင်ရွက်ခဲ့သည်။ တပ်သား အကျ အဆုံးလည်း နည်းစေ၊ ခရီးလည်း တိုစေ၊ လိုရာလည်း ရောက်စေဟူသော ရည်ရွယ်ချက်ဖြင့် ထို ရည်ရွယ်ချက် အောင်မြင်ရေးအတွက်သာ ရှေးရှုခဲ့သည်။ သို့ဖြစ်ရကား စစ်သေနာပတိချုပ် ကူတူဇော့ဗ်က ရုရှားစစ်တပ်ကြီး၏ လှုပ်ရှားမှုကို နှေးကွေးစေခဲ့ခြင်း၊ ပြင်သစ်တို့နောက်မှ ထက်ကြပ်မလိုက်ဘဲ မလှမ်းမကမ်းမှ တစေ့တစောင်း အကဲခတ်၍ လိုက်လာခဲ့ခြင်းမှာ တစ်ခါတစ်ရံမှ စိတ်ကူး ရ၍ ထလုပ်ခြင်း မတော်တဆ လုပ်ခြင်းမျိုး မဟုတ်ပေ။ ( အစမှ အဆုံးတိုင် တစ်ကြိမ်တစ်ခါမျှ သွေဖည်ခြင်းမရှိစေ ရန် အထူးသတိပြုလျက် တစ်သမတ်တည်း ဆောင်ရွက် ခဲ့သော အပြုအမူသာ ဖြစ်လေသည်။

ပြင်သစ်တို့သည် ဒရောသောပါး ထွက်ပြေးလျက် ရှိကာ စစ်ပျက်လျက် ရှိပြီ ဆိုသည့်အချက်နှင့်တကွ ၎င်းတို့ သည် ဗုန်းဗုန်းလဲကျဆုံးရမည်ဆိုသည့်အချက်ကို ရုရှား တပ်သားတိုင်း သိသကဲ့သို့ စစ်သေနာပတိချုပ် ကူတူဇော့ဗ် လည်း သိပေသည်။ (ဆင်ခြင်တုံတရားဖြင့် စဉ်းစားခြင်း၊ စက်မှုသိပ္ပံပညာဖြင့် လေ့လာသုံးသပ်ခြင်းတို့ကြောင့် သိခြင်း မဟုတ်ပါ။ ရုရှားလူမျိုး တစ်ယောက်၏ဘဝ၊ ရုရှားလူမျိုး တစ်ယောက်၏ ခံစားချက်ဖြင့် သိခြင်း ဖြစ်ပါသည်။) တစ်ချိန်တည်းမှာပင် ရာသီဥတုဒဏ်ကြောင့် စစ်သည် တပ်သားတို့ အထိအရှ အဖိတ်အစဉ်များ၍ သွားလမ်း လာလမ်း ကြမ်းတမ်းခက်ခဲကြောင်းကိုလည်း တပ်သား တိုင်းကဲ့သို့ပင် စစ်သေနာပတိချုပ် ကူတူဇော့ဗ် သိပေသည်။

သို့သော်လည်း အခြားသော ဗိုလ်ချုပ်များ၊ အထူး သဖြင့် ရုရှားစစ်တပ်ထဲတွင် အမှုထမ်းလျက်ရှိသော နိုင်ငံ ခြားသားဗိုလ်ချုပ်များမှာမူကား မိမိတို့ကိုယ်ကို

မိမိ ထင် ပေါ်ကျော်ကြားအောင်လုပ်ရန်၊ "လူစွမ်းလူစ"ပြရန် မိမိတို့ တက်လမ်းကို ရှာသောအားဖြင့် ဘုရင်ငယ်တစ်ပါး သို့ မဟုတ် နယ်စားတစ်ပါးကို လက်ရဖမ်းပြ ရန်လောက်ကို သာ စိတ်စောလျက် ရှိသည့်အလျောက် ဤအချက်ကို နားမလည် ကြချေ။ မိမိတို့တပ်များ စစ်ပန်းလျက်ရှိသည့် အချိန်၌ စစ်တိုက်ခြင်းသည် အကျိုး မရှိ အရာမထင်ရုံမျှ မက အန္တရာယ်များလှသော်လည်း ထိုသူတို့၏ စိတ်၌ ကား ထို အချိန်သည် ရန်သူကို တိုက်ခိုက်၍ အောင်ပွဲခံရန် မင်္ဂလာအခါတော်ကြီး ဖြစ်သည် ဟု ထင်မှတ်နေကြပုံရပေ သည်။ ထိုအချိန်၌ ရုရှားစစ်တပ်ကြီးမှာ အဝတ်အထည်၊ ဖိနပ်၊ စားနပ်ရိက္ခာမှစ၍ အစစအရာရာ ချို့တဲ့လျက် ရှိ ပေသည်။ တစ်လအတွင်း တိုက်ပွဲတစ်ပွဲမျှ မတိုက်ရဘဲ တပ်သားတစ်ဝက်ကျော်မျှ ဆုံးရှုံးခဲ့ရလေပြီ။ ဤသို့ သော စစ်တပ်ကြီးမျိုးဖြင့် နောက်ထပ်နှစ်ပြန်မကဝေးသည့် ဒေသ များသို့ ဆက်လက်ချီတက်ကာ စစ်ကစားမှုများ ပြုလုပ်သင့် ကြောင်းဖြင့် ထိုဗိုလ်ချုပ်များ က စီမံကိန်းအမျိုးမျိုး ရေး ဆွဲ၍ တင်ပြလာသောအခါ၌ကား စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် မည်သို့မျှမပြောတော့ဘဲ ပခုံးကိုသာ တွန့်ပြခြင်း ပြုလေ တော့သည်။

ထိုစစ်ဗိုလ်ချုပ်များ၏ ထင်ပေါ်လိုသောဆန္ဒ၊ စစ် ကစားလိုသောဆန္ဒ၊ ရင်ဆိုင်တိုက်ပွဲဆင်လိုသောဆန္ဒ၊ ရန်သူ့ စစ်ဆုတ်လမ်းကို ဖြတ်တောက်လိုသော ဆန္ဒ၊ "လူစွမ်း ကောင်း" လုပ်ပြလိုသောဆန္ဒ စသည်တို့သည် ပြင်သစ် စစ်တပ်ကြီး နှင့် မမျှော်လင့်ဘဲ သွားတိုးမိသည့်အခါတိုင်း ဖုံး၍ ဖိ၍ မရနိုင်အောင် အထင်းသား ပေါ်လာတတ်ကြ လေသည်။

ဤအချက်ကို ကရပ်စနိုတိုက်ပွဲ၌ တွေ့နိုင်လေ သည်။ ရုရှားစစ်တပ်ကြီး သည် ကရပ်စနို၌ ပြင်သစ်စစ် ကြောင်းသုံးကြောင်းအနက် စစ်ကြောင်းတစ် ကြောင်းနှင့် သာ တွေ့လိမ့်မည်ဟု ယူဆထားခဲ့သော်လည်း စစ်သည် တပ်သား တစ်သောင်းခြောက်ထောင်ဖြင့် နပိုလီယန်ကိုယ် တိုင်ဦးဆောင် ကွပ်ကဲလာသော

ပြင်သစ်စစ်တပ်ကြီးနှင့် ပက်ပင်းသွားတိုးမိလျက်သား ဖြစ်နေသည်။ စစ်သေနာပတိချုပ်ကူတူဇော့ဖ်၏အမြင်၌ ဤတိုက်ပွဲသည် မိမိ၏ ပျက်စီးရာ ပျက်စီးကြောင်းကိုသာ ဖြစ်စေမည်ဟု ယူဆ သည့်အလျောက် တိုက်ပွဲကို ရှောင်ကွင်းရန်၊ ဤသို့ ရှောင်ကွင်းခြင်းဖြင့် မိမိ၏ တပ်များကို အထိအရှမရှိစေ ရန် အစွမ်းကုန် ကြိုးစားခဲ့သေး၏။ သို့ရာတွင် မောပန်း နွမ်းနယ်လျက်ရှိသော ရုရှားတပ်များက "ချွတ်ခြုံကျလျက် ရှိသော ပြင်သစ်တပ်သားများကို အစုလိုက် အပြုံလိုက် ဝိုင်းဝန်းသတ်ဖြတ်ကြသည်မှာ ကရပ်စနိုတွင် သုံးရက် တိုင်တိုင် ကြာခဲ့လေသည်။ ၊ ဤတွင် ဗိုလ်ချုပ်ကြီး တိုးလ်ကလည်း "ပထမ စစ်ကြောင်းသည် ဤနေရာမှ ထိုနေရာသို့ ချီတက်ရမည်" စသည်ဖြင့် စစ်အင်္ဂါစဉ်တစ်ခုကို ရေးဆွဲ၏။ သို့ရာတွင် ခါတိုင်းကဲ့သို့ပင် စစ်အင်္ဂါစဉ်အတိုင်း တစ်ခုမျှ ဖြစ်မလာ ခဲ့ချေ။ ဗိုလ်ချုပ်ကြီး ဗာတင်ဘတ်သည် အပြေးပြေး အလွှားလွှားဖြစ်လျက်ရှိသော ပြင်သစ်တို့ကို တောင်ကုန်း တစ်ခုပေါ်မှ စီး၍ ပစ်၏။ ထို့နောက် တပ်ကူတောင်း၏။ သို့ရာတွင် ထုံးစံအတိုင်း ထိုတပ်ကူများသည် လိုရာသို့ ရောက်မလာခဲ့ကြချေ။ ပြင်သစ်တို့သည် ရုရှားတို့ကို " ရှောင်ကွင်းကာ အစုစုခွဲပြီး ညအချိန်တွင် တောထဲ၌ ပုန်းအောင်းကာ ဝေးနိုင်သမျှ ဝေးဝေးကွေ့၍ ဆုတ်ခွာ သွားကြပြီးနောက် ဆက်လက် ထွက်ပြေးကြပြန်သည်။

မိမိတပ်များ၏ ထောက်ပံ့ရေးကိစ္စများကို စိတ် ဝင်စားခြင်းမရှိဟု မကြာခဏ ထုတ်ဖော်ပြောတတ်၍ အရေးကြုံလျှင် ရှာ၍ မတွေ့အောင် စုပ်စမြုပ်စပျောက်"

ချက်သားကောင်းတတ်သော ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ် သည် (၎င်းမှာ "ကြောက်ရွံ့ခြင်းကင်း၍ အစွန်းအထင်းမရှိ သော သူရဲကောင်းကြီးတစ်ဦး´သဖွယ် ဟန်ရေးပြလေ့ရှိ သည်။) ပြင်သစ်များနှင့် မျက်နှာချင်းဆိုင် ဆွေးနွေးရ ခြင်းကို သဘောကျသူဖြစ်သည့်အလျောက် သံတမန်များ စေလွှတ်၍ လက်နက်ချ အညံ့ခံ

ခိုင်းခြင်းဖြင့် အချိန်ဖြုန်း လျက် ရှိသည်။ အမိန့်ပေးထားသည့်အတိုင်းကား တစ်ခု မျှ ဆောင်ရွက်ခြင်း မရှိချေ။

"ရဲဘော်တို့ သင်တို့အား ဤစစ်ကြောင်းကို ငါ အပိုင်စားပေးအံ့" ဗိုလ်ချုပ် မီလိုရာဒိုဗစ်ချ်သည် မိမိ၏ မြင်းတပ်ရှေ့တွင် မြင်းတစ်စီးဖြင့် ခေါက်တုံ့ခေါက်ပြန် ဟန်ရေးပြပြီးနောက် ပြင်သစ်တပ်တစ်တပ်ကို လက်ညှိုး ညွှန်၍ ဆို၏။

ဤတွင် မီလိုရာဒိုဗစ်ချ်၏ မြင်းတပ်သားများသည် ယှ်ယုံမှုသာ ကျန်တော့သော မြင်းများကို သံဆူးများ၊ • ခေးလွှယ်များဖြင့် အတင်းရိုက်ပုတ်ထိုးနှက်၍ မိမိတို့ အား အပိုင်စားပေးထားသည်ဟူသော ပြင်သစ်စစ်ကြောင်း ဆီသို့ အစွမ်းကုန် ကြိုးစား၍ လှုပ်လှုပ်ယှယ့် ချီတက်ခဲ့ ကြ၏။ (ပြင်သစ်စစ်ကြောင်းမှာ စစ်ကြောင်း ဟုသာ ဆို ရသော်လည်း အစာရေဆာ ငတ်ပြတ်လျက်ရှိ၍ ဆီးနှင်း ဒဏ်ကြောင့် လက်များများပြတ်နေသော ဒုက္ခိတ ပြင်သစ်လူမျိုးတစ်အုပ်သာ ဖြစ်ပါသည်။) ထိုအခါတွင် အပိုင်စားပေးခြင်း ခံရသော ထိုပြင်သစ်စစ်ကြောင်းသည် လည်း ကြာရှည်လေးမြင့်စွာ ဆောင့်ဆိုင်းလာခဲ့သော အခွင့် အရေးကြီးတစ်ခုကို ရ သည့်နှယ် အလျင်အမြန် လက်နက် ချ၍ အညံ့ခံကြလေသည်။

ဤသို့ဖြင့် ရုရှားစစ်တပ်ကြီးသည် ကရပ်စနို၌ သုံ့ပန်းနှစ်သောင်းခြောက်ထောင်၊ အမြောက်မြတပူ ရာ ပေါင်းများစွာနှင့် "စစ်သူကြီး၏ တောင်ဝှေး´ဟု ခေါ်သော လက်ကိုင်တုတ်ကလေးတစ်ချောင်းကို သိမ်းဆည်းခဲ့ကာ မိမိတို့၏ အောင်ပွဲကြီးအတွက် ဝမ်းမြောက်မဆုံး ဂုဏ်ယူ မဆုံး ဖြစ်လျက် ရှိ ကြ၏။ ဤတိုက်ပွဲ၌ သူက အစွမ်း ထက်သည်၊ ငါက အစွမ်းထက်သည် စသည်ဖြင့် ငြင်းခုံ လျက် ရှိကြ၏။ နပိုလီယန်ကိုသော်လည်းကောင်း၊ စစ်သူ ကြီးတစ်ဦးကို သော် လည်းကောင်း ဖမ်းဆီးနိုင်ခြင်း မရှိ သဖြင့် တစ်ယောက်ကိုတစ်ယောက်

အပြစ်ဖို့လျက်လည်း  ရှိကြလေသည်။ အထူးသဖြင့် စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို အပြစ်ဖို့လျက် ရှိကြလေသည်။

စင်စစ်၌ကား စိတ်၏ စေစားရာသို့ လိုက်ပါနေ ကြရသည့် ထိုလူများသည် နောက်ကျဖွယ်ကောင်းသော ရှောင်လွှဲမရခြင်း နိယာမတရား၏ ကျေးကျွန်မျက်ကန်း များသာ ဖြစ်ကြပေသည်။ သို့ရာတွင် ၎င်းတို့ကိုယ်ကို ၎င်းတို့ကား "လူစွမ်းကောင်း"ကြီးများသဖွယ် ထင်မှတ် ကာ လောက၌ အမြင့်မြတ်ဆုံး၊ ဂုဏ်အရှိဆုံးသော အမှု ကြီးတစ်ခုကို ပြုလုပ်နေကြသည်ဟု ထင်လျက် ရှိကြလေသည်။ ၎င်းတို့က စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို အပြစ်တင်ကြလျက် မိမိတို့က နပိုလီယန်ကို နိုင်အောင် တိုက်သော်လည်း ကူတူဇော့ဗ်သည် တိုက်ပွဲစတင်သည့် အချိန်မှစ၍ မိမိတို့ကို ဟန့်တားနှောင့်ယှက်ခဲ့သည်ဟု လည်းကောင်း၊ ကူတူဇော့ဗ်သည် ကိုယ်ကျိုးမှအပ အခြား မည်သည့်အရာကိုမျှ ကြည့်သူမဟုတ်ဟု လည်းကောင်း၊ လိုင်နင်ဒေသတွင် စည်းစိမ်ယစ်လျက်ရှိခြင်းကြောင့် ၎င်း ဒေသမှ ရှေ့သို့ ဆက်လက် ချီတက်ခြင်းမပြုဟု လည်း ကောင်း၊ ကရပ်စနို၌လည်း နပိုလီယန်နှင့် ရင်ဆိုင်တွေ့ မည်ဟု သိရကတည်းက ကယောင်ကတမ်းဖြစ်ကာ တပ်များကို ရှေ့သို့ ဆက်လက်ချီတက်ခြင်း မပြုနိုင်ရန် ဟန့် တားခဲ့ကြောင်း၊ ကူတူဇော့ဗ်သည် နပိုလီယန်နှင့် နားလည် မှုရကာ နပိုလီယန်ထံမှ လာဘ်ယူခဲ့လိမ့်မည် ထင်ရသည် ဟုလည်းကောင်း အမျိုးမျိုး ပြောဆိုခဲ့ကြလေသည်။ - , ဤသို့ဖြင့် အမောင့်ပယောဂ ပူးလျက်ရှိသော ထို ခေတ်က ပုဂ္ဂိုလ်များသည် လည်းကောင်း၊ နောင်လာနောက် သားများသည် လည်းကောင်း၊ ရာဇဝင်သည် လည်းကောင်း နပိုလီယန်အား ကြီးမြတ်ပါပေသည်ဟု ကောင်းချီးသြဘာ ပေးခဲ့ကြလေသည်။ ကူတူဇော့ဗ်ကိုမူကား မည်သူကမျှ ကောင်းချီးသြဘာမပေးခဲ့ကြချေ။ ထိုမျှမက နိုင်ငံခြားသား ရာဇဝင်ဆရာတို့က ကူတူဇော့ဗ်သည် စဉ်းလဲသော၊ မပြတ် သားသော၊ အားနည်းသော၊ မင်းမြှောင်စိုးကပ် အဘိုးအို တစ်ဦးမျှသာ ဖြစ်သည်ဟု

သမုတ်ခဲ့ကြ၍ ရုရှား ရာဇဝင် ဆရာများကမူကား ကူတူဇော့ဗ်သည် ရုရှားအမည် မှည့် ထားခြင်းအပ အခြားမည်သည့် အရည်အချင်းမျှ မရှိသည့် ရုပ်သေးရုပ်ကြီး တစ်ရုပ်မျှသာ ဖြစ်သည်ဟု ပြစ်တင်ရှုတ်ချ လျက်ရှိကြလေသတည်း။

# အခန်း ၅

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကြီးစွာသော အမှား များကို ကျူးလွန် ခဲ့ကြောင်းဖြင့် ၁၈၁၂-ခုနှစ်နှင့် ၁၈၁၃ခုနှစ်များတွင် လူသိရှင်ကြား စွပ်စွဲလာခဲ့ကြ လေသည်။ ဧကရာဇ်ဘုရင်မင်းမြတ်ကလည်း ကူတူဇော့ဗ်ကို အလိုတော် မကျ ဖြစ်လာခဲ့လေသည်။ ရွှေနန်းတော်ကြီး၏ အမိန့်အရ စီရင်ပြုစုအပ်သော မှန်နန်း ရာဇဝင်ကျမ်းတစ်စောင်၌မူ ကူတူဇော့ဗ်သည် ကောက်ကျစ်စဉ်းလဲသော နန်းတွင်း လူ လိမ်ကြီးတစ်ဦးဟုလည်းကောင်း၊ နပိုလီယန်၏ အမည်ကို ကြားရုံမျှဖြင့် ကြောက်ဒူးတုန်တတ်သူဟု လည်းကောင်း၊ ၎င်း၏ အမှားများကြောင့် ရုရှား စစ်တပ်ကြီးသည် ပြင်သစ် တို့ကို လုံး၀ အောင်ပွဲမခံနိုင်ဘဲ ဂုဏ်သိက္ခာပျက်ခဲ့ရ သည် ဟု လည်းကောင်း ဖော်ပြထားလေသည်။ (ထိုရာဇဝင် ကျမ်းမှာ ဘိုဂါဒါနိုဗစ် စီရင်ပြုစုသော "၁၈၁၂-ခုနှစ်ရာဇ ဝင်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ စိတ်သဘော ထားနှင့် ကရုပ်စနိုတိုက်ပွဲကို ဝေဖန်သုံးသပ်ချက်များ" အမည်ရှိ ကျမ်းဖြစ်သည်။) ဤသည်မှာ ဘုရားသခင်၏ အလိုတော်ကို မြင် ၍ ဘုရားသခင်၏ အလိုတော်ကျ ဆောင်ရွက်တတ်သူ တို့၏ ကံကြမ္မာပင် ဖြစ် ပါသည်။ စိတ်နောက်ကိုယ်ပါ မပြုမူ၍ အရာရာကို ရှေ့နောက် တွေးမြော်ဆင်ခြင် လုပ် ဆောင်တတ်သူတို့၏ ကံကြမ္မာပင် ဖြစ်ပါသည်။ နောက် လိုက် တပည့်မမွေး တတ်သော ရှားပါးလှသည့် ခေါင်း ဆောင်ကောင်းတို့၏ ကံကြမ္မာပင် ဖြစ်ပါသည်။ (ကြီးမြတ် သော ပုဂ္ဂိုလ်ထူးတို့၏ ကံကြမ္မာဟုကား ကျွန်ုပ်တို့ မပြော လိုပါ။ ရုရှား လူမျိုးတို့၏ စိတ်ဓာတ်ကလည်း လောက၌ ကြီးမြတ်သော ပုဂ္ဂိုလ်ဟူ၍ ရှိကြောင်း

အသိအမှတ်မပြုပါ။) ပရမ်းပတာ လူအုပ်၏ ပြင်းထန်ခါးသီးသော ဒေါသစိတ်သည် မွန်မြတ်သော လောကနိယာမတရားများကို မြင်သူ တို့အား ဤသို့ အပြစ်ပေးလေ့ ရှိသည်သာ ဖြစ်ပေသည်။

လူ့ဂုဏ်သိက္ခာဆို၍ မည်သည့်နေရာ၊ မည်သည့် အချိန်တွင်မျှ တစ်ရွေးသား မရှိခဲ့ဖူးသည့် နပိုလီယန်၊ ရာဇဝင်၏ မထင်ရှားဆုံး၊ အညတရ အဖြစ်ဆုံးသော ကျေးကျွန်မျှသာ ဖြစ်သည့် နပိုလီယန်ကို ဘုန်းတော်အနန္တ၊ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံသူ၊ ကြီး မြတ်သူ၊ ဝိသေသထူးသူအဖြစ် ရုရှားရာဇဝင်ဆရာများက တရားလွန် မြှောက်ပင့်ပြောဆိုလျက် ရှိကြသော်လည်း အစမှအဆုံးတိုင် ဘိုရိုဒီနိုမှသည် ဗီလနာအထိ မနောကံ အားဖြင့် လည်းကောင်း၊ ဝစီကံ အားဖြင့် လည်းကောင်း၊ ကာယကံအားဖြင့် လည်းကောင်း ရုရှားပြည်သူတို့၏ အကျိုးစီးပွားမှ ဆံခြည်တစ်မျှင်မျှ သွေဖည်ခြင်းမရှိခဲ့သည့် ကူတူဇော့ဗ်၊ ကိုယ်ကျိုးစွန့်ခြင်း၊ ရှေ့နောက်မြော်မြင်ဆင် ခြင်တိုင်းထွာခြင်းအရာ၌ ရာဇဝင်တွင် ရှာမှရှား လောက် အောင် စံနမူနာထူခဲ့သည့် ကူတူဇော့ဗ်ကိုမူကား ၎င်းတို့ က "မရေရာသူ၊ မပြတ်သားသူ၊ သနားစရာ သတ္တဝါတစ်ဦး ဟု ထင်မှတ်ကြလျက် ၎င်း၏အကြောင်းနှင့်တကွ ၁၈၁၂ခု စစ်ပွဲအကြောင်းကို ပြောဆိုတိုင်း ပါးစပ်သနသည် ယူဆလျက်ရှိကြသည်မှာ အံ့ဩဖို့လည်း ကောင်း၊ ကြောက် ဖို့လည်း ကောင်းလှပေသည်။

သို့ရာတွင် ကူတူဇော့ဗ်ကဲ့သို့ ရည်ရွယ်ချက်တစ်ခု ပြည့်မြောက်ရေးအတွက် သွေဖည်ခြင်းမရှိ၊ စိုက်လိုက်မတ် တတ်လုပ်ဆောင်ခဲ့သော ရာဇဝင်ကျော် ပုဂ္ဂိုလ်တစ်ယောက် ကို လိုက်ရှာကြစတမ်းဆိုလျှင် စိတ်ကူးထဲတွင်သော်မှ တွေ့ဖို့ မလွယ်ပါ။ ကူတူဇော၏ ရည်ရွယ်ချက်ကဲ့သို့ ပြည်သူလူထုတစ်ရပ်လုံး၏ ဆန္ဒနှင့် ကိုက်ညီသော၊ သို့ မဟုတ် ထိုက်တန်သော ရည်ရွယ်ချက်မျိုးကို ရှာကြစတမ်း ဆို

လျှင်လည်း စိတ်ကူးထဲတွင်သော်မှ တွေ့ဖို့မလွယ်လှပါ။ ထိုထက် ၁၈၁၂-ခုက ကူတူဇော့ဗ်၏ လုပ်ဆောင်ချက် များကဲသို့ ပြည်သူလူထုတစ်ရပ်လုံး၏ဆန္ဒနှင့် ကိုက်ညီ သော ရည်ရွယ်ချက်လည်း ရှိ၊ ထိုရည်ရွယ်ချက်ကို သွေဖည် ခြင်းမရှိ စိုက်လိုက်မတ်တတ် အကောင်အထည်ဖော်ခြင်း လည်း ပြုသည့် လုပ်ဆောင်ချက် မျိုးကား ရာဇဝင်တွင် ပို၍ပင် ရှာမှရှားလိမ့်မည် ထင်ပါသည်။

- နပိုလီယန်သည် အီဂျစ်ကို တိုက်ခဲ့စဉ်က "အနှစ် လေးထောင်တည်ခဲ့သော ဤပိရမစ်အဆောက်အအုံကြီး များကပင် ငါ၏ ဘုန်းတန်ခိုးကို ငုံ့၍ကြည့်စေ အံ့"ဟု ကြုံးဝါးခဲ့၏။ ကူတူဇော့ဗ်သည် တစ်ခါဖူးမျှ ဤသို့ "ဟန်ရေး"မပြုခဲ့ချေ။ အဖနိုင်ငံကြီးအတွက် မည်မျှ သက်စွန့် ကြိုးပမ်းထမ်းရွက်ခဲ့ပြီဟုလည်း ကိုယ့်ကိုယ်ကို ဂုဏ်မတင် ချေ။ သို့မဟုတ် အံ့ဖွယ်သူရဲဘော၊ ထူးကဲသော ဆောင်ရွက်ချက်ကြီးကို စွမ်းစွမ်းတမံ ဆောင်ရွက်မည်ဟုလည်း "ကြွား လုံး' မထုတ်ခဲ့ချေ။ ယေဘုယျပြောရလျှင် ကူတူဇော့ဗ် သည် ကိုယ့်ကိုယ်ကိုလည်း အမွှန်းတင်၊ လူအထင်ကြီး အောင် ဟန်ရေးလည်းမပြ၊ အရိုးသားဆုံး၊ သာမန်အကျဆုံး သော လူတစ်ဦးအဖြစ်သာ အမြဲတမ်းနေထိုင်ခဲ့၍ အရိုးသား ဆုံး၊ သာမန်အကျဆုံးသော အကြောင်းအရာများကိုသာ ပြောခဲ့သည်။ ကူတူဇော့ဗ်သည် သမီးများထံ စာရေး ခြင်း ပြု၏။ မဒမ်ဒီစတေးလ်ထံ စာရေးခြင်း ပြု၏။ (မဒမ်ဒီစ တေးလ်မှာ နပိုလီယန်၏ ရန်သူတော် အမျိုးသမီးကြီး တစ်ဦးဖြစ်၍ နပိုလီယန်၏ ရန်ကြောင့် ပီတာစဘတ် ရွှေမြို့တော်သို့ ထွက်ပြေးလာသူဖြစ်သည်။) ဝတ္ထုဖတ်၏။ မိန်းမချော မိန်းမလှများနှင့် နေရခြင်းကို နှစ်သက်၏။ ဗိုလ်ချုပ်များ၊ တပ်ဗိုလ်များ၊ တပ်သား များနှင့် နောက် ပြောင်ကျီစယ်ခြင်းပြု၏။ စောဒကတက်လာသော တစ် ဖက်လူကို မည်သည့်အခါမျှ ဆန့်ကျင်ခြင်းမပြုဘဲ အလိုက် အထိုက် စကားဆို၏။ ထို့ကြောင့် မဟုတ်လော။ မော်စကို မြို့ဝန် ရော့စတော့ချင်သည် ယောဇတံတားအနီးတွင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်ထံ ဒုန်းစီး၍ရောက်လာကာ မော်စကိုမြို့ကို

မီးလောင်ခြင်းအတွက် အပြစ်ဆိုသည့် အနေဖြင့် "မော်စကိုကို တိုက်ပွဲတစ်ပွဲမျှ မ တိုက်ဘဲ မည် သည့်အခါမျှ ငါမစွန့်ဟူသော ကိုယ်တော်ကြီး၏ ကတိကို မေ့ပြီ လော"ဟု မေးသည့်အခါ၌ "မှန်၏၊ မော်စကိုကို တိုက်ပွဲတစ်ပွဲမျှ မတိုက်ဘဲ ကျုပ်မ စွန့်"ဟု မော်စကိုမြို့ကို စွန့်ခွာလာခဲ့ပြီ ဖြစ်သည့်တိုင် အလိုက်အထိုက် ပြန်ပြော သည် မဟုတ်လော။ ထို့ပြင် ရွှေနန်းရှင်အမိန့်ဖြင့် စစ်ဝန် ကြီး အာရပ်ချေ့ ရောက်လာကာ ဗိုလ်ချုပ်အာ မိုလော့ဗ်ကို အမြောက်တပ် ဦးစီးချုပ်ခန့်ရန် ပြော လာသည့်အခါ၌ သဘောမတူသည့်တိုင် "ကျုပ်လည်း ထိုကိစ္စကို စဉ်းစား နေသည်"ဟု အထိုက်အလျောက် ဖြေခဲ့သည် မဟုတ် လော။ ၎င်းအဖို့ ထိုသို့ အထိုက်အလျောက်ပြောဆိုခြင်း မပြုလျှင်လည်း မည်သို့အကျိုးထူးမည်နည်း။ ရေ လိုက် ငါးလိုက်ပြောရုံသာ ရှိတော့သည် မဟုတ်လော။ အဆင်ခြင် ဉာဏ်ကင်းမဲ့၍ ပရမ်းပတာဖြစ်လျက်ရှိသည့် လူအုပ်တစ် အုပ်ကြား၌ ရှေ့နောက် ဆင်ခြင် တိုင်းထွာသူ ဟူ၍ ပြေး ၍ ရေလျှင် မိမိတစ်ယောက်သာ ရှိတော့သော အခြေသို့ ရောက်နေပြီ ဖြစ်ရကား မြို့ဝန် ရော့စတော့ချင်က အပြစ် ဟူသမျှ မိမိအပေါ်တွင် ပုံချခြင်းကို ပြန်လှန်ချေပနေ လျှင်လည်း မည်သို့ အကျိုးထူးဦးမည်နည်း။ မည်သူ့ အား အမြောက်တပ် ဦးစီးချုပ် ခန့်စေဟူသော အမိန့်ကို စော . ဒကတက်နေလျှင် လည်း မည်သို့ အကျိုးထူးဦးမည်နည်း။

လူတို့သည် လူတစ်ယောက်ကို တန်ဖိုးဖြတ်ရာ၌ ထိုလူ၏ အတွေးအခေါ် မည်မျှရင့်သန်သည်၊ မရင့်သန် သည်ကို မကြည့်ကြတော့ပြီ။ ထိုလူ၏ အတွေးအခေါ်တို့ ကို ဖော်ပြရာဖြစ်သော ထိုလူ၏စကားသည် မည်မျှ တန်ဖိုးရှိ သည်ကိုလည်း မကြည့်ကြတော့ပြီ။ ကူတူဇော့ဗ် သည် ဘဝ၏ အတွေ့အကြုံအရ ဤအချက်ကို သိမြင် လာခဲ့လေသည်။ သို့ဖြင့် လူတစ်ယောက်၏ အတွေးအခေါ် နှင့် စကားတို့သည် ဤသူတို့အဖို့ မည်သို့မျှ အဓိပ္ပာယ်မရှိ ကြောင်းကို ဘဝ အတွေ့အကြုံအရ သိရှိလာခဲ့သည့် ထို အဘိုးကြီးသည် ထိုနောက်၌ သင့်မသင့်၊ ရာ

မရာ၊ ရှေ့ နောက် ညီမညီ၊ အဓိပ္ပာယ်ရှိမရှိ စသည်တို့ကို စဉ်းစား ခြင်းမပြုတော့ဘဲ ခေါင်းထဲတွင် ပေါ်လာသမျှစကားလုံး ကို လက်လွတ်စပယ်ပြောတတ်သည့် အကျင့်ကြီးတစ်ခုကို ရလာခဲ့လေတော့သည်။

သို့တိုင်အောင် စကားကို ဤသို့ "လက်လွတ် စပယ်" ပြောလေ့ရှိသည့် ထိုအဘိုးကြီးသည် တိုက်ပွဲစဉ် တစ်လျှောက်လုံး၌ မိမိမှန်းထားခဲ့သော တစ်ခုတည်းသော ရည်ရွယ်ချက်နှင့် ဆန့်ကျင်သွေဖည်သည့် စကားမျိုးကိုကား တစ်ခါဖူးမျှ မပြောခဲ့ဖူးချေ။ ဤမျှ အခြင်ဆင်ဉာဏ်ကင်း မဲ့သော ဗိုလ်ချုပ်တစ်စု၏ အလယ်၌ မိမိပြောသောစကား သည် သဲထဲရေသွန် ဖြစ်ရမည်ကို သိသော်လည်း မိမိ၏ တကယ့် ယုံကြည်ချက်များကိုမူ အခါအားလျော်စွာ ထပ် တလဲလဲ ထုတ်ဖော်ပြောဆိုခဲ့သည်သာ ဖြစ်လေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ဘိုရိုဒီနိုတိုက်ပွဲဖြစ်ပွားသည့်အချိန်မှ စ၍ မိမိအပါးရှိ ဗိုလ်ချုပ်များနှင့် စတင် ၊ သဘောကွဲလွဲခဲ့၏။ ထိုအချိန်က ဗိုလ်ချုပ်အားလုံးက ဘိုရို ဒီနိုတိုက်ပွဲသည် မိမိတို့ အရေးနိမ့်ခြင်းဖြစ်သည်ဟု ဆိုခဲ့ ကြ၏။ "ဘိုရိုဒီနိုတိုက်ပွဲသည် မိမိတို့ အရေးနိမ့်ခြင်းမဟုတ်၊ အောင်ပွဲခံခြင်း ဖြစ်သည်"ဟု ပြောခဲ့သူမှာ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်တစ်ဦးတည်းသာ ဖြစ်ပေသည်။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် ထိုစကားများကို နှုတ်ဖြင့်လည်း ထပ်တလဲလဲ ပြောခဲ့သည်။ စာချွန်များ၊ အစီရင်ခံစာများ ထဲတွင်လည်း ထပ်တလဲလဲ ရေးခဲ့သည်။ ထိုယုံကြည်ချက်၊ ထိုစကားကို သေရွာအထိ တစ်သမတ်တည်း သယ်ဆောင် သွားခဲ့သည်သာ ဖြစ်ပေသည်။ "မော်စကိုကျဆုံးခြင်းသည် ရုရှားနိုင်ငံကြီး ကျဆုံးခြင်းမဟုတ်" ဟု အားလုံးသော ဗိုလ်ချုပ်များနှင့် ဆန့်ကျင်ပြောဆိုခဲ့သူမှာလည်း ကူတူ ဇော့ဗ်တစ်ယောက်သာ ရှိပေသည်။ နပိုလီယန်က လောရစ္စ တန်ကို စေလွှတ်၍ ငြိမ်းချမ်းရေး ကမ်းလှမ်းသည့်အခါ၌ "ပြည်သူတို့၏ ဆန္ဒမှာ စစ်ပြေငြိမ်းရေးမဟုတ်။ ထို့ကြောင့် စစ်ပြေငြိမ်းရေး ငါမပြုနိုင်"ဟု ပြောခဲ့သူမှာလည်း ကူတူ ဇော့ဗ်သာ ဖြစ်ပေသည်။ ပြင်သစ်တို့ ဆုတ် ခွာ

သောအခါ၌ “ငါတို့၏ စစ်ကစားမှုများသည် အချည်းနှီး အကျိုးမဲ့သာ တည်း။ ငါတို့ ပြုသည်ထက်ပင် အခြေအနေအရပ်ရပ်သည် သူ့အလိုအလျောက် တိုးတက် ကောင်းမွန်လျက်ရှိသည်”ဟု လည်းကောင်း၊ “ရန်သူတို့ကို ပိတ်ဆို့ခြင်း မပြုရာ။ သင်း တို့ ငါတို့နိုင်ငံတွင်းမှ လျင်မြန်စွာ ထွက်သွားနိုင်စေရန် “ရွှေတံတား၊ ငွေ တံတား’ခင်း၍ပင် ပေးသင့်သည်”ဟု လည်းကောင်း၊ “ငါတို့သည် တာရူတီနို တိုက်ပွဲကိုသော် လည်းကောင်း၊ ဗျာဇမာတိုက်ပွဲကိုသော် လည်းကောင်း၊ ကရပ်စနို တိုက်ပွဲကိုသော် လည်းကောင်း တိုက်ရန်မလို”ဟု လည်းကောင်း၊ စစ်အင်အားကို လမ်းခရီးတွင် မဖြုန်းတီး ရာ။ နယ်စပ်သို့ အရောက်ချီနိုင်အောင် သိုမှီးရာသည်”ဟု လည်းကောင်း၊ “ပြင်သစ်ဆယ်ယောက်နှင့် တပ်သား တစ်ယောက်ကို မလဲနိုင်”ဟု လည်းကောင်း ပြောခဲ့သူမှာ လည်း ကူတူဇော့ဗ်တစ်ဦးတည်းသာ ဖြစ်ပေသည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် တစ်ပါးကျွန် ပီပီ ရွှေနန်းရှင် အလို တော်ကျ ဗောင်းတော်ညိတ်၊ စိတ် တော်သိလုပ်မည့် လူစားကြီး ဖြစ်သည်ဟု လည်းကောင်း၊ ရှင်ဘုရင်ပြောတိုင်း “မှန်ပါ့ဘုရား” လုပ်တတ်သူ လူ့ကပ် ပါးကြီး တစ်ဦး ဖြစ်သည်ဟု လည်းကောင်း၊ အာရတ်ချေ ကို လိမ်လည်ခဲ့သည့် နန်းတွင်း လူလိမ်ကြီး ဖြစ်သည်ဟု လည်းကောင်း ရာဇဝင်ဆရာများက ရေးခဲ့ကြ၏။ သို့သော် လည်း “ရုရှားနိုင်ငံ နယ်နိမိတ်ကို ကျော်လွန်၍ စစ်ကို တိုးချဲ့ခြင်းသည် အဓိပ္ပာယ်လည်း ကင်းမဲ့၍ အန္တရာယ် လည်း များလှသည်”ဟု ရွှေနန်းရှင်အလိုကို ဆန့်ကျင်၍ ပြောဆိုခဲ့သူမှာ ဤ “နန်းတွင်းလူလိမ်”ကြီးတစ်ဦးသာ ရှိ သည် မဟုတ်လော။ ၁၈၁၂-ခု စစ်ပွဲအတွင်း ရုရှားတို့ဘက်၌ ရှေ့နောက် ဆင်ခြင် တိုင်းထွာတတ်သူဆို၍ စစ်သေနာပတိချုပ် ကူတူဇော့ဗ် တစ်ဦးတည်းသာ ရှိ ပါသည်။ ဤအချက် မှန်ကြောင်းကို ဖော်ပြပါ ၎င်း၏ စကားများက သက်သေ ပြ လျက် ရှိပါသည်။ စကားများကသာ သက်သေပြသည် မဟုတ်ပါ။ ၎င်း၏ ဆောင်ရွက်ချက်များကလည်း သက် သေပြလျက် ရှိပါသည်။ ကူတူဇော့ဗ်၏

ဆောင်ရွက်ချက် ဟူသမျှသည် (၁) ပြင်သစ်တို့နှင့် ရင်ဆိုင်တိုက်ခိုက်ရန် အတွက် ရှိသမျှ စစ်သည်လက်နက်၊ ရိက္ခာအင်အားကို စုဆောင်းသိုမှီးရေး၊ (၂) ပြင်သစ်တို့ အပေါ်၌ အောင်ပွဲခံ ရေး၊ (၃) ရုရှားစစ်တပ်ကြီးနှင့် ပြည်သူများအဖို့ အဆုံး အရှုံး နည်းနိုင်သမျှဖြင့် ရန်သူတို့ကို ရုရှားနိုင်ငံတွင်းမှ မောင်းထုတ်ရေးတည်းဟူသော သံတူကြောင်းကွဲ ရည်ရွယ် ချက်သုံးရပ်မှ ဆံခြည်တစ်မျှင်မျှ သွေဖည်တိမ်းစောင်း ခြင်း မရှိခဲ့ချေ။

“ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် “စိတ်ရှည် ခြင်းနှင့်အချိန်”သာလျှင် ရန်သူကို အောင်ကြောင်းမည်၏ ဟူသော ဆောင်ပုဒ်ကို လက်ကိုင်ပြုသူ၊ လေးကန်ဖင့်နွှဲ သူ၊ လျင်မြန်ပြတ်သားခြင်း၏ ရန်သူဟု ရာဇဝင်ဆရာများ က ရေးခဲ့ ကြ၏။ သို့သော်လည်း သူမတူသော လျင်မြန် ထက်သန်ခြင်းဖြင့် ဘိုရိုဒီနိုကို ဝိုင်းဝန်းကာ ရာဇဝင်တွင် သော တိုက်ပွဲကြီးကို ဆင်နွှဲခဲ့သူမှာ ဤ“လေးကန်ဖင့်နွှဲ့ သူ”ပင် မဟုတ်လော။ ဩစတားလစ် တိုက်ပွဲတွင် မိမိ တို့ အရေးနိမ့်လိမ့်မည်ဟု မုချ ဆတ်ဆတ် ကြိုတင်သတိ ပေးခဲ့သူမှာလည်း ဤကူတူဇော့ဗ် မဟုတ်လော။ ၎င်း၏ နိမိတ်ဖတ်ချက်အတိုင်း ရုရှားတို့ ဖနောင့်နှင့် တင်ပါး တစ်သားတည်း ကျအောင် ပြေးခဲ့ရသည်မဟုတ်လော။

ဘိုရိုဒီနိုတိုက်ပွဲသည် ရုရှားတို့အဖို့ အရေးနိမ့်ခြင်း ဖြစ်သည် ဟု ရုရှားစစ်ဗိုလ် ချုပ်များက မည်မျှညီညာဖျဖျ ဆိုကြရုံ မျှမက “စစ်သေနာပတိချုပ်ကသာ ဘိုရိုဒီနို တိုက်ပွဲကို နိုင်သည်ဆိုသည်။ တကယ်တွင်ကား ငါတို့တပ်တော်ကြီး မှာ ကစဥ့်ကရဲ ဆုတ်ခွာလာခဲ့ကြရသည်။ အောင်မြင်လျက် နှင့် ဆုတ်ခွာခဲ့ရသော စစ်တပ်ဟူ၍ ရာဇဝင်တွင် သွေး သောက်တို့ ကြားဖူးကြ၏လော”ဟု ပြက်ရယ်ပြု ကြသည့် တိုင် ဘိုရိုဒီနိုတိုက်ပွဲသည် ရုရှားတို့အဖို့ အောင်ပွဲဖြစ် သည်ဟု သေသည် အထိ တစ်သမတ်တည်း အခိုင်အမာ ရပ်တည်ခဲ့သူမှာ ကူတူဇော့ဗ်တစ်ဦးတည်း သာ ရှိသည် မဟုတ်လော။ နောက်ဆုံး၌လည်း ဘိုရိုဒီနိုတိုက်ပွဲသည် နပိုလီယန်ကျ

ဆုံးခြင်း၏အစဖြစ်၍ ရုရှားအောင် ပွဲ၏ နိဒါန်း မဟုတ်လော။ ဘိုရိုဒီနိုမှ ဆုတ်စစ် ပြုလာသည့် အခါတွင်လည်း ထိုစဉ်က ရုရှားတို့အဖို့ အကျိုးမထူးသည့် အလျောက် တိုက်ပွဲများကို ရှောင်ကွင်းရန် တစ်သမတ် တည်း တိုက်တွန်းခဲ့သူမှာ ကူတူဇော့ဗ် တစ်ဦးတည်းသာ ရှိသည် မဟုတ်လော။ စစ်ပွဲသစ်တစ်ရပ်ကို ဆင်နွှဲခြင်း မပြုသင့် ဟု အခိုင်အမာဆိုခဲ့သူ ရုရှားတပ်များသည် နပိုလီ ယန်နောက်သို့ လိုက်ရာ၌ ရုရှား နယ်စပ်ထက် ကျော်လွန် ၍ မသင့်ဟု တစ်ဖြောင့်တည်းဆိုခဲ့သူမှာလည်း ကူတူ ဇော့ ဗ်တစ်ဦးတည်းသာ ရှိသည် မဟုတ်လော။

တစ်ဒါဇင်လောက်မျှသာ အရေအတွက်ရှိသော စစ်ဗိုလ်ချုပ်များ၏ ခေါင်းထဲ တွင်သာ ရှိသည့် အသင်္ချေ အနန္တ များပြားလှသော ရည်ရွယ်ချက်များ၊ စီမံကိန်းများ ကို ဘေးဖယ်၍ ဓမ္မဓိဋ္ဌာန်ကျကျ စဉ်းစားလျှင် ကူတူ ဇော့ဗ်၏ ရည်ရွယ်ချက်များ၊ လုပ်ဆောင်ချက်များနှင့်တကွ ထိုရည်ရွယ်ချက်များ၊ လုပ်ဆောင်ချက်များ၏ အကျိုး တရားကြီးမား များပြားပုံကို ယခုအချိန်တွင် ကျွန်ုပ်တို့ အလွယ်တကူ နားလည်နိုင်သည်သာ ဖြစ်လေသည်။

ပြည်သူ့ထင်မြင်ချက်များ၏ အရေးကြီးပုံကို ကြည့် မြင်ရာ၌ ကူတူဇော့ဗ် တစ်ဦးတည်းသာလျှင် နဂိုပကတိ အတိုင်း မြင်ခဲ့ပေသည်။ ထိုသို့ မြင်သည့် အလျောက် နှမ်းလုံးတစ်ထောက်မျှ သွေဖည်တိမ်းစောင်းခြင်း မရှိဘဲ ပြည်သူတို့၏ အကျိုးစီးပွားကိုလည်း ဆောင်ခဲ့လေသည်။ သို့ရာတွင် မိမိ၏ ပတ်ဝန်းကျင်ရှိ ဗိုလ်ချုပ်များ၏ ထင် မြင်ချက်များ သွက်သွက်လည်အောင် မှားလျက်ရှိချိန်၌ မည် သည့်အတွက်ကြောင့် ထိုအဘိုးကြီးတစ်ဦးသာလျှင် အမှန်ကို မြင်ခဲ့ရသနည်း။ မည် သည့်အတွက်ကြောင့် သွေဖည်ခြင်းမရှိ၊ ပြည်သူတို့၏ အကျိုးစီးပွားကို ဆောင် ခဲ့ သနည်း။ ထိုအဘိုးကြီးသည် ခပ်သိမ်းကုန်ကို သိမြင် နိုင်သောဉာဏ် ရရှိနေခြင်း ကြောင့်လား ။

ကူတူဇော့ဗ်သည် ဖြစ်ပျက်လျက်ရှိသော အဖြစ် အပျက်များ၏ အဓိပ္ပာယ်ကို ဖောက်ထွင်း သိမြင်နိုင်စွမ်း ရှိခဲ့ခြင်းမှာ အခြားကြောင့် မဟုတ်ချေ။ ၎င်း၏ ကိုယ်တိုင် နှလုံးသားတွင်း၌ သန့်ရှင်းခြင်း၊ ခိုင်မာခြင်း အပြည့်အဝရှိသော အမျိုးသားရေး စိတ်ဓာတ် ကိန်းဝပ်နေ ခြင်းကြောင့်သာ ဖြစ်လေသည်။ . ပြည်သူများသည် ဤ ခိုင်မာသန့်ရှင်းသော အမျိုး သားရေးစိတ်ဓာတ်ကို အသိအမှတ်ပြုခဲ့ကြခြင်းကြောင့်သာ ဤအဘိုးကြီးကို အမျိုးသားစစ်ပွဲ၌ ၎င်းတို့၏ ကိုယ်စား လှယ်အဖြစ် ဇာဘုရင်၏အလိုကို ဆန့်ကျင်လျက် ထူးထူး ဆန်းဆန်း ရွေးချယ်ခဲ့ကြခြင်း ဖြစ်လေသည်။ ဤအမျိုး သားရေးစိတ်ဓာတ်ကြောင့်သာ ကူတူဇော့ဗ်သည် စစ်သေနာပတိချုပ်ဟူသော အမြင့်ဆုံးသောနေရာသို့ ရောက်ရှိခဲ့ကာ ထိုနေရာမှ နေ၍ လူအချင်းချင်း သတ်ဖြတ်ဖျက်ဆီးခြင်း မပြုရန်၊ လူအချင်းချင်း သနားကရုဏာထား၍ ကယ်ဆယ် ကြရန် ၎င်း၏အာဏာကို အသုံးပြုနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

လူစွမ်းကောင်းဆိုသူများသည် လူ့လောကကို စိုးမိုးအုပ်ချုပ်လျက်ရှိသည် ဟူသော အယူအဆကို ရာဇဝင် က တီထွင်ခဲ့၏။ သို့ဖြစ်သည့်အလျောက် လူစွမ်းကောင်း ၊ မည်သည် ဤသို့ ထိုသို့သော အရည်အချင်းများဖြင့် ပြည့်စုံရမည် ဟုဆိုကာ လူစွမ်းကောင်းနှင့် ပတ်သက်သည့် စံချိန်မှားကြီးကို ရာဇဝင်က ပြုလုပ်ခဲ့၏။ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်ကား ရိုးသား၏။ မိမိကိုယ်ကို မိမိနိမ့် ချ၏။ ထို့ကြောင့် တကယ် ကြီးမြတ်သော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မွန်မှန်ပေသည်။ ဤသို့ ကြီးမြတ်သောပုဂ္ဂိုလ်ထူး တစ်ဦးသည် ရာဇဝင်က သွန်းလုပ်ခဲ့သည့် လူစွမ်းကောင်း ဟူသော စံချိန်မှားကြီးနှင့် မည်သည့်နည်းနှင့်မျှ ဘောင်ဝင် အံကျ နိုင်မည် မဟုတ်ချေ။ “

ကပ်ပါးတို့အဖို့ လောကတွင် ကြီးမြတ်သော ပုဂ္ဂိုလ်ဟူ၍ မရှိနိုင်ချေ။ အဘယ့်ကြောင့်ဆိုသော် ကပ်ပါး တို့မည်သည် ကြီးမြတ်ခြင်းကို ကပ်ပါးတို့၏ စံချိန်ဖြင့်သာ တိုင်းထွာတတ်သောကြောင့် ဖြစ်လေသည်။

# အခန်း ၆

နိုဝင်ဘာလ ၅- ရက်နေ့ကား ကရပ်စနိုတိုက်ပွဲဟု ခေါ်သော လူသတ်ပွဲ၏ ပထမဆုံးနေ့ပေတည်း။ ထိုနေ့ညနေတွင် ရုရှားဗိုလ်ချုပ်များသည် တာဝန်ကျရာ ဒေသများသို့ ထွက် ခွာခြင်း မပြုကြဘဲ အချင်းချင်း ငြင်းခုံလျက်ရှိခြင်း၊ အမှား များ ကို ကျူးလွန်လျက် ရှိခြင်းဖြင့် အချိန်ဖြုန်းလျက် ရှိကြ၏။ တပ်ရေးများကို စေလွှတ်ကာ ဗိုလ်ချုပ်တစ်ဦးနှင့် တစ်ဦး အပြန်အလှန် အမိန့်ပေးလျက် ရှိကြ၏။ ၎င်းတို့ က ဤသို့ ငြင်းခုံ၍ကောင်းလျက်ရှိစဉ်၊ အပြန်အလှန် အမိန့်ပေးလျက်ရှိစဉ် ပြင်သစ်တို့မှာ စစ်မြေပြင်အနှံ့အပြား မှ ဆုတ်ခွာထွက်ပြေးလျက် ရှိကြပေပြီ။ ထို့ကြောင့် ၎င်း တို့ မည်မျှပင် အားခဲထားသော်လည်း တိုက်ပွဲဖြစ်တော့ မည် မဟုတ်ချေ။ ဖြစ်လည်း မဖြစ်နိုင်တော့ချေ။ ထိုအချိန် ၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကရပ်စနိုမှ ဒိုဗရို သို့ ထွက်ခွာလာခဲ့လေသည်။ စစ်သေနာပတိချုပ်၏ စစ် ဦးစီးဌာနချုပ်ကို ထိုနေ့မှာပင် ဒိုဗရိုသို့ ပြောင်းရွှေ့ပြီး ဖြစ်လေသည်။

ထိုနေ့မှာ မိုးသားတိမ်တိုက်တို့ ကင်းသော်လည်း ဆီးနှင်းပေါက်တို့ တဖြောက်ဖြောက် ကျဆင်းလျက် ရှိ ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ၎င်း၏ အဖြူ ရောင် ပိန်ပိန်ပုပုမြင်းကလေးကို စီး၍ ဒိုဗရိုသို့ ထွက် လာခဲ့၏။ ၎င်း၏နောက်မှလည်း မကျေမချမ်းဖြစ်လျက်ရှိ သော ဗိုလ်ချုပ်များသည် တသီတတန်းကြီး လိုက်ပါလာ ကြ၏။ ၎င်းတို့သည် စစ်သေနာပတိချုပ် ကူတူဇော့ ဗ်၏ အကြောင်းကို တီးတိုးပြောဆိုလာကြလေသည်။ လမ်းတစ် လျှောက်၌ကား ထိုနေ့တွင် ဖမ်းဆီးရမိသော ပြင်သစ်သုံ့ပန်း များသည် (အားလုံးခုနစ်သောင်းရှိ သည်။) စခန်းမီးပုံများ တွင် စုပြုံ၍ မီးလှုံလျက်ရှိကြ၏။ ဒိုဗရိုအနီးသို့ ရောက်သော အခါတွင် စုတ်ပြတ်လျက်ရှိ၍ ရှိသမျှကို ရစ်ပတ်လွှမ်း ခြုံထားကြသော ကြီးမား သည့် ပြင်သစ်သုံ့ပန်းအုပ်ကြီး တစ်အုပ်သည် လမ်းဘေးသေနတ်ပုံကြီးများကြား၌

ရပ် လျက်ရှိခြင်းကို တွေ့ရ၏။ စစ်သေနာပတိချုပ် ကူတူဇော်ဝ် ရောက်လာသည့် အခါ၌ သုံ့ပန်းအုပ်ကြီးသည် မီးကို ရေနှင့် သတ်လိုက်သည့်ပမာ ငြိမ်သက်သွားလေသည်။ ၎င်းတို့ သည် ဖဲကြိုးအနီရစ် ဦးထုပ်ဖြူ ရင်ဘတ်တွင် ဖောင်း ဖောင်းကြီး ဖြစ်လျက်ရှိသော ဝမ်းကပ်ဝတ်ရုံတို့ကို ဝတ်ဆင် လျက် မြင်းဖြူကလေးကို တအိအိစီးလာသည့် စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်ကို ငေးကြည့်လျက် ရှိကြလေသည်။ ရုရှားစစ်ဗိုလ်ချုပ်တစ်ယောက်က ထိုသုံ့ပန်းများနှင့် လက် နက်များကို မည်သည့်နေရာတွင် ဖမ်းဆီးရမိခဲ့ကြောင်း စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို အစီရင်ခံလျက် ရှိလေ သည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စစ်ဗိုလ်ချုပ် ပြောသည့်စကားများကို ကြားဟန်မတူဘဲ တစ်စုံတစ်ရာ ကို တွေးလျက် လိုက်ပါလာ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ရစရာမရှိအောင် စုတ်ပြတ်လျက်ရှိသော သုံ့ပန်းများကို မျက်မှောင်ကုတ်၍ ကြည့်လာသည်။ ၎င်း ၏ မျက်လုံးများ၌ မကျေနပ်သော အရိပ်အယောင်များ ဖုံးလွှမ်းလျက်ရှိ၏။ သုံ့ပန်းများစွာတို့မှာ ဆီးနှင်းဒဏ် ကြောင့် နှာခေါင်းများ၊ ပါးများ မဲ့ရွဲ့ပြတ်သတ်လျက်ရှိ ကာ ၎င်းတို့၏ မျက်လုံးများမှာလည်း နီရဲဖူးရောင်၍ မျက်ခမ်းစပ်များ စုတ်ပြတ်လျက် ရှိကြလေပြီ။

ပြင်သစ်သုံ့ပန်း အစုစုသည် လမ်းအနီး၌ ရပ်လျက် ရှိ၏။ ထိုအစုထဲမှ ပြင်သစ်သုံ့ပန်းနှစ်ယောက်သည် အသား ( တစ် တစ်တစ်ကို လုယက်လျက် ရှိကြ၏။ ထိုနှစ်ယောက် အနက် တစ်ယောက်မှာ မျက်နှာတစ်ခုလုံး အနာပိမ့်ကြီး များ အပြင်လိုက် အပြင်လိုက် ထွက်လျက် ရှိလေသည်။ ၎င်းတို့သည် မြင်းကိုယ်စီ စီးလာသည့် စစ်သေနာပတိချုပ် နှင့်အဖွဲ့ကို အစိမ်းလိုက် ဝါးစားတော့မတတ် ပြူးကြည့် လျက် ရှိကြ၏။ မျက်နှာတွင် အနာပိမ့်များ ထွက်လျက် ရှိသည့် သုံ့ပန်းသည် စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို တစ်ချက်မျှ လှမ်းကြည့်ပြီးနောက် များစွာ

စက်ဆုပ်ရွံ့မုန်း သော မျက်နှာထားဖြင့် တစ်ဖက်သို့ လှည့်သွားကာ အသားတစ်ကို လိုက်လုနေပြန်သည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ထိုသို့ပန်း တပ်သားနှစ်ဦးကို အတန်ကြာမျှ စူးစိုက်ကြည့်နေသည်။ ( ထို့နောက် နဖူးကို တွန့်လျက် မျက်မှောင်ကုတ်ကာ ခေါင်း ကို ဖြည်းညင်းစွာ ယမ်းလျက် ရှိလေသည်။ အခြား တစ် နေရာ၌ကား ရှုရှားတပ်သားတစ်ယောက်က ပြင်သစ်သုံ့ပန်း တစ်ဦး၏ ကျော ကိုပုတ်ကာ ရယ်ရယ်မောမော စကား ပြောလျက် ရှိခြင်းကို မြင်ရ၏။ ထိုအခါ၌ စစ် သေနာ ပတိချုပ် ကူတူဇော့ဗ်သည် ယခင်မျက်နှာထားဖြင့်ပင် ခေါင်းကို ယမ်းမိ ပြန်သည်။

"ဘာပြောလိုက်တယ်ဗျ သွေးသောက်ကြီး။ ဆို စမ်းပါဦး" စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်က မေး၏။ နောက်က ဗိုလ်ချုပ်သည် ပြင်သစ်တို့၏ စစ်တံခွန်များ ကို လက်ရ သိမ်းပိုက်ခဲ့ကြောင်း၊ ၎င်းတို့ကို ရှေ့မလှမ်းမကမ်း ပရီရိုဗရာဇင့် မြင်းတပ်ရင်းရှေ့တွင် ထောင်ထားကြောင်း ၊ ဖြင့် အစီရင်ခံလျက် ရှိသည်။

"အလို စစ်တံခွန်တွေလား။ ဟုတ်စ" စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်က တွေးလက်စ အတွေးများကို ဖြတ်၍ ဆိုလိုက်သည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပတ်ဝန်းကျင် ကို လှည့်ကြည့်၏။ ၎င်း၏ ပတ်ဝန်းကျင်မှ ထောင် ပေါင်းများစွာသော မျက်လုံးများသည် စစ်သေနာပတိချုပ် ကို စူးစိုက်ကြည့်လျက် ရှိကြ၍ ၎င်း၏ နှုတ်မှထွက်လာ အံ့ သော စကားတစ်ခွန်းကို စောင့်လင့်ကြ၏။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပရီရိုဗရာ ဇင့် မြင်းတပ်ရင်းရှေ့သို့ ရောက်သည်၌ မြင်းကို ရပ်၏။ သက်ပြင်းရှိုက်၍ မျက်လုံးများကို မှိတ်၏။ နောက်မှ လိုက်ပါလာသော ဗိုလ်ချုပ်တစ်ဦးသည် ပြင်သစ်စစ်တံခွန် များကို ကိုင်ထားသည့်

တပ်များကို ရှေ့သို့ တက်စေ၍ စစ်သေနာပတိချုပ်၏ ဘေးပတ်ပတ်လည်တွင် ဝိုင်းရံ အလေးပြုရန် အချက်ပြလိုက်သည်။ ကူတူဇော့ဗ်သည် စက္ကန့်အတန်ကြာမျှ တိတ်ဆိတ်နေပြီးနောက် စစ်သေနာ ပတိချုပ်၏ ဝတ္တရားအတိုင်း ခေါင်းကို မော့၍ မိနစ်ခွန်း မြွက်ကြား၏။ ဝတ္တရားဖြစ်၍သာ ပြောရသော်လည်း စိတ် မပါလှချေ။ တပ်ဖိုလ်များသည် ၎င်း၏အနီးတွင် ဝိုင်းအုံ လျက် ရှိကြ၏။ စစ်သေနာပတိချုပ်သည် တပ်ဖိုလ်များ၏ မျက်နှာများကို စေ့စေ့လိုက်ကြည့်၏။ မှတ်မိသော မျက်နှာ များလည်း အများအပြား ပါလေသည်။

“သွေးသောက်တို့၊ သွေးသောက်တို့ အားလုံးကို ငါ ကျေးဇူးတင်သည်” စစ်သေနာပတိချုပ် ကူတူဇ် သည် တပ်သားများဘက်သို့ လှည့်၍ဆို၏။ နောက်တပ် ဖိုလ်များဘက်သို့ လှည့်ပြန်၏။ တပ်သား၊ တပ်ဖိုလ်အားလုံး သည် အပ်ကျသည်ကိုပင် ကြားရမလောက် ငြိမ်သက် လျက်ရှိရာ တစ်လုံးချင်း ခပ်တိုးတိုး ပြောဆိုလျက်ရှိသော စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ စကားများကို ပီသစွာ ကြားရလေသည်။

“သွေးသောက်တို့၊ ဤမျှ ပြင်းထန်ခက်ခဲသည့် အခြေအနေ၌ သစ္စာရှိစွာ အမှုတော်ထမ်းခြင်းအတွက် သွေးသောက်တို့ကို ငါကျေးဇူးတင်သည်။ ငါတို့၏ အောင်ပွဲသည် ဆုံးခန်းသို့ ရောက်လေပြီ။ အမိရုရှားနိုင်ငံကြီး သည် သင်တို့အား မည်သည့်အခါမျှ မေ့နိုင်တော့မည် မဟုတ်။ ထာဝစဉ်ဂုဏ်ပြုလျက်ရှိနေမည်သာ ဖြစ်သည်”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စကားကို ရပ်တန့်၍ ပတ်ဝန်းကျင်ကို လှည့်ကြည့်ပြန်သည်။ ပရီရို ဗရာဇင့်တပ်ရင်း စစ်တံခွန်များ၊ စစ်တလင်းများရှေ့၌ တပ်သားတစ်ယောက်သည် လင်းယုန်ငှက်ရေးထိုးထား - သည့် ပြင်သစ်စစ်တံခွန်ကို ထောင်၍ ကိုင်ထားရာမှ မတော်တဆ အောက်သို့ ယိုင်ကျသွား၏။

"အိမ်း၊ အိမ်း၊ သင်းတို့ စစ်တံခွန်ကို လှဲထား၊ လှဲထား။ အိမ်း၊ ဟုတ်ပြီ။ အရေးတော်ကြီး အောင်ပြီ၊ အောင်ပြီ" . ။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပြင်သစ် စစ်တံခွန်လဲကျခြင်းကို မြင်သည်၌ စိတ်အားတက်ကြွလာ လျက် ခေါင်းကို ဆတ်ခနဲ မော့၍ ကြွေးကြော် လိုက်၏။

အောင်ပြီ၊ အောင်ပြီ" ထောင်ပေါင်းများစွာ အသံများသည် မြည်ဟည်း၍ ပေါ်ထွက်လာ၏။ , တပ်သားများက ကြွေးကြော်သံများကို အော်ဟစ် လျက်ရှိချိန်၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ကိုယ် ကို ရှေ့သို့ ကိုင်း၍ ခေါင်းညွတ်၏။ ၎င်း၏ မျက်လုံးများ ၌ လှောင်ပြောင်သရော်သည့် အရိပ်အယောင်များ မသိမသာ ယှက်သန်းလာကြ၏။

တပ်သားများ၏ ကြွေးကြော်သံများသည် တိတ် သွားကြ၏။

"နောင်ငယ်တို့" . စစ်သေနာပတိချုပ် ကူတူဇော်၏ အသံနှင့်မျက်နှာ ထားသည် တစ်မုဟုတ်ချင်း ပြောင်းသွား၏။ ၎င်း၏ မျက်နှာထား၊ ၎င်း၏အသံ၌ စစ်သေနာပတိချုပ်တစ်ဦး၏ အမူအရာ၊ လေယူလေသိမ်းတို့ မရှိတော့ချေ။ သာမန် အဘိုး ကြီးတစ်ဦးက ၎င်း၏ သွေးသောက်များအား အရေးကြီး သည့်ကိစ္စတစ်ခုကို ရင်းရင်းနှီးနှီးပြောဆိုလျက်ရှိသည့် အသွင်ကို ဆောင်လျက် ရှိလေသည်။

တပ်ဗိုလ်များနှင့် တပ်သားများသည် စစ်သေနာ ပတိချုပ်ကူတူဇော့ဗ်၏ စကားများကို သဲကွဲစွာ ကြားနိုင် ရန် ရှေ့သို့ တိုးလာကြသဖြင့် လူအုပ်ထဲတွင် လှုပ်လှုပ် ရွရွဖြစ်သွား၏။

"နောင်ငယ်တို့၊ ယခုအခြေအနေသည် များစွာ ကျပ်တည်း ခက်ခဲသော အခြေအနေဖြစ်သည်။ နောင်ငယ်  တို့ များစွာပင်ပန်းကြလိမ့်မည်ကို ငါသိသည်။

သို့ရာတွင် ငါ မတတ်နိုင်ပြီ။ ဖြစ်သမျှကို ခါးစည်း၍ ရင်ဆိုင်ကြရုံ သာ ရှိတော့သည်။ ဤအခက်အခဲ အကျပ်အတည်းသည် ကြာရှည်တော့မည် ငါမထင်။ ငါတို့ မဖိတ်မပင့်ဘဲ ရောက်လာသော ငါတို့၏ ဧည့်သည်ကြီးများ ပြန်သွား ကြသည့်အခါ၌သာ ငါတို့ငြိမ်းချမ်းစွာ နေထိုင်ကြတော့ မည်။ ဘုန်းတော်ကြီးသော ရွှေနန်းရှင်ဇာဘုရင်မင်းမြတ် သည် နောင်ငယ်တို့၏ သက်စွန့်ကြိုးပမ်းအမှုတော်ထမ်း ခြင်းကို မေ့တော်မူမည်မဟုတ်။ နောင်ငယ်တို့၏ အခြေ အနေသည် ပင်ပန်းကျပ်တည်းလှသည် မှန်စေ၊ အမိနိုင်ငံ ၏ မြေကြီးပေါ်တွင် နေရသေးသည်။ သင်းတို့ကား သူ တစ်ပါး၏ မြေပေါ်သို့ လာ၍ ဤအခြေမျိုးသို့ ရောက်ကြရ သေးသည် မဟုတ်လော”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပြင်သစ် သုံ့ပန်းများကို လက်ညှိုးထိုး ပြ၏။

“သင်းတို့ကား အဆင်းရဲဆုံး ဖုန်းတောင်းယာ စကာလောက်မျှ လူလုံးမလှ ဖြစ်ကြရသေးသည်။ သင်းတို့ အင်အားကြီးခိုင်စဉ်ကာလ၌ ငါတို့သည် အသက်ကို ပဓာနမထားဘဲ ရဲရဲဝံ့ဝံ့ တွန်းလှန်တိုက်ခိုက်ခဲ့ကြ၏။ ယခုကား သင်းတို့၌ အားမရှိပြီ။ သင်းတို့ကား သနားဖွယ် ပင် ကောင်းလှတော့သည်။ သင်းတို့လဲ လူသားများပင် မဟုတ်လား”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပတ်ဝန်းကျင် ကို လှည့်ကြည့်မိပြန်၏။ မိမိအား အံ့ဩလေးစားခြင်းဖြင့် စူးစိုက်ကြည့်လျက်ရှိသော မျက်လုံးများ၌ မိမိစကားကို နားလည်သဘောပေါက်သည့် အရိပ်အယောင်များလည်း မြင်ရ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏မျက်နှာသည် အဘိုးအိုတစ်ယောက်၏ အပြုံးမျိုးဖြင့် ထိန်လင်းလာ၏။ မျက်လုံးထောင့်နှင့် နှုတ်ခမ်းထောင့်များ၌ အရေတွန့်များ

အထင်းသား ပေါ်လာကြ၏။ စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်သည် စကားပြော ခြင်းကို ရပ်၍ ခေါင်းကို ငုံ့၏။

"နောင်ငယ်တို့၊ သင်းတို့ကို ဤမြေပေါ်သို့ မည် သူက ဖိတ်ပင့်လာသနည်း။ ၎င်းတို့အလိုအလျောက်လာ ကြခြင်း ဖြစ်သည်။ ထို့အတူလည်း သင်းတို့အား ထုံးစံ အတိုင်း ပြုစုစောင့်ရှောက်ကြကုန်"

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ခေါင်းကို ဆတ်ခနဲ မော့၏။ ထို့နောက် ကြာပွတ်ကို ဝင့်လျက် မြင်းကို ဒုန်းစီး၍ ထွက်သွားလေသည်။ ဤ အကြိမ်သည် ကူတူဇော့ဗ်အဖို့ ထိုတိုက်ပွဲစဉ်အတွင်း ပထမဆုံးအကြိမ် မြင်းကို အသော့စီးခြင်း ဖြစ်လေသည်။ တပ်သားများသည် ကြွေးကြော်သံများ အော်ဟစ် ကျန်ရစ်ခဲ့ကြလေသည်။

အမှန်၌ကား စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ စကားများကို မည်သည့် တပ်သားမျှ လုံးစေ့ပတ်စေ့ မမှတ် မိလိုက်ကြချေ။ စစ်သူကြီး၏ စကားများသည် အစပထမ ၌ လေးနက်သောသဘောကို ဆောင်ခဲ့သော်လည်း နောက် ၌ကား စစ်သေနာပတိချုပ်တစ်ဦး၏ စကားနှင့် မတူတော့ ဘဲ သာမန်အဘိုးကြီးတစ် ယောက်က စိတ်ကောင်း နှလုံး ကောင်းဖြင့် ဆုံးမသွားသော စကားမျိုးနှင့်သာ တူ တော့ သည်။ သို့ရာတွင် ထိုအဘိုးကြီး၏ စကားများသည် ရိုးသားခြင်း၊ ရန်သူတို့ကို အောင်နိုင်၍ ဝမ်းသာသော် လည်း ရန်သူတို့ကို ကြင်နာသနားခြင်း၊ ရုရှားလူမျိုးတို့ ၏ အရေးတော်ကြီး မှန်ကန်ခြင်းကို ဖော်ပြလျက်ရှိသည့် အလျောက် ထိုအဓိပ္ပာယ် များကိုကား တပ်သားအားလုံး ကောင်းစွာ နားလည်လိုက်ကြပေသည်။ နားလည်ရုံ မျှမက ထိုသဘောများသည် ၎င်းတို့၏ ရင်ထဲတွင်လည်း အလား တူ ကိန်းအောင်း လျက်သာ ရှိလေသည်။ ထို့ကြောင့် ပွဲတင် ထပ်မျှ ကောင်းချီးဩဘာပေးလျက် ကြွေးကြော် ကျန်ရစ် ခဲ့ကြခြင်း ဖြစ်လေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်

မှာကား ထိုနေ့တွင် အထူးစိတ်လှုပ်ရှားလျက် ရှိလေသည်။ သို့ကြောင့် က ရထား ပြင်ရမည်လောဟု ဗိုလ်ချုပ်တစ်ဦးက လာမေးသည့်အခါ၌ စစ်သေနာပတိ ချုပ်သည် အဖြေကို မျှ မပေးနိုင်ဘဲ ရှိုက်ကြီးတငင် ငိုကြွေးလျက် ရှိခြင်း ဖြစ် လေသတည်း။

# အခန်း ၇

နိုဝင်ဘာလ ၈-ရက်နေ့မှာ ကရပ်စနိုတိုက်ပွဲ၏ နောက်ဆုံး နေ့ ဖြစ်၏။ ည စခန်းချရန် သတ်မှတ်ထားသည့် နေရာ၌ ရုရှားတပ်များ ရောက်လာသည့်အခါတွင် မှောင်စပျိုး၍ နေလေပြီ။ ထိုနေ့ တစ်နေ့လုံး နှင်းမြူတို့ အုံ့ဆိုင်းလျက် ရှိပြီး တစ်ခါတစ်ရံတွင် ဆီးနှင်းဖွဲဖွဲကလေးများ ကျလျက် ' ရှိ၏။ ညနေပိုင်း၌ကား ရာသီဥတုမှာ ကြည်လင်စပြုလာ လေသည်။ နက်ပြာသောကောင်းကင်ကြီးသည် တဖွဲဖွဲကျ လျက်ရှိသော ဆီးနှင်းများကြားမှ ဘွားခနဲ ပေါ်ထွက်လာ ၏။ နှင်းမှုန်များကား တဝေဝေကျဆဲပင် ဖြစ်လေသည်။

ထိုနေ့ည တပ်စခန်းချရန် သတ်မှတ်ထားသည့် နေရာမှာ ပေတစ်ရာလမ်းနှင့် ကပ်လျက်ရှိသော ရွာကလေး တစ်ရွာဖြစ်၏။ စခန်းသို့ ပထမဆုံး ရောက်လာသော တပ်မှာ ခြေလျင်တပ်တစ်တပ်ဖြစ်၏။ ထိုတပ်သည် တာရူတီနိုမှ ထွက်လာခဲ့စဉ်က တပ်သားသုံးထောင်ရှိသော်လည်း ယခု အချိန်၌ ကိုးရာမျှသာ ရှိတော့သည်။ ခြေလျင်တပ်ကို ဆီးကြိုလာသော တပ်ထောက်ဗိုလ်များက ရွာထဲတွင် တဲ လွတ်များ မရှိတော့ကြောင်း၊ တဲများအားလုံးမှာ နာမကျန်း ဖြစ်လျက်ရှိသော ပြင်သစ် မြင်းတပ်သားများ၊ စစ်ဦးစီးဌာန ချုပ် အမှုထမ်းများ၊ အလောင်းများဖြင့် ပြည့်နှက် လျက် ရှိကြောင်း ပြောကြားကြ၏။ တဲလွတ်တစ်လုံးသာ ကျန် တော့ရာ ထိုထဲကို ခြေလျင်တပ်ရင်း တပ်မှူးကို ပေးလိုက် လေသည်။

( တပ်မှူးသည် တ်ဆီသို့ မြင်းစီး၍ လာခဲ့၏။ တပ် ရင်းကြီးသည် ရွာကို ဖြတ်၍ ချီတက်လာခဲ့ပြီးနောက် ရွာ အစွန်ရှိ တဲများရှေ့တွင် လက်နက်များကို စုပုံ ထားလိုက် သည်။

တပ်ရင်းကြီးသည် ခြေလက်အင်္ဂါများစွာ ပါရှိ သည့် တိရစ္ဆာန်ကြီးတစ် ကောင်ကဲ့သို့ အိပ်စက်နားနေရန် နှင့် အစာစားရန် ပြင်ဆင်လျက် ရှိလေသည်။ အချို့တပ် သားများသည် လူစုခွဲကာ ဒူးဆစ်လောက်ရှိသော ဆီးနှင်း ပြင်ကြီးကို ဖြတ်၍ ရွာ၏ လက်ယာဘက်ရှိ တောထဲသို့ ထွက်သွားကြ၏။ ခဏကြာလျှင် တောထဲမှ ပုဆိန်ခုတ် သံများ၊ ဓားခုတ်သံများ၊ သစ်ကိုင်းချိုင်သံများ၊ စကား ပြော သံများကို ကြားရ၏။ အခြားတပ်သားစုတစ်စုမှာ တစ်စုတည်း ဖြုတ်ထားသော တပ်ရင်းလှည်းများ၊ မြင်းများ ကြားတွင် တလှုပ်လှုပ်သွားလာလျက် သံခွက်များ၊ ဂျုံမှုန့် ဆုပ်များကို ထုတ်၍ ချက်ပြုတ်ရန် ပြင်ဆင်လျက် ရှိကြ ၏။ အချို့က မြင်း များကို အစာကျွေးကြ၏။ အခြားတပ် သားစုတစ်စုကား တပ်ရင်းအရာရှိများ အတွက် ရွာထဲတွင် တဲလွတ်များကို လိုက်လံ ရှာဖွေလျက် ရှိကြ၏။ တဲထဲမှ ပြင် သစ်အလောင်းများကို ဆွဲထုတ်သူက ဆွဲထုတ်လျက် စခန်းမီးပုံဖိုရန် ပျဉ်တိုပျဉ်စ များ၊ သစ်ကိုင်းခြောက်များ၊  သက်ငယ်မိုးများကို စုသူက စုကြ၏။ ကနဖျင်းထိုးရန် အတွက် ခြံစည်းရိုးများကို ဆွဲဖျက်သူက ဖျက်ကြ၏။

တပ်သား ဆယ့်ငါးယောက်တို့သည် ညာသံပေး လျက် တဲတစ်လုံးမှ မြေ စိုက်နံရံကို ဆွဲဖျက်နေကြ၏။ ထိုထဲမှ အမိုးမှာ အခြားတပ်သားတို့ ဆွဲဖြုတ်သွား သဖြင့် မရှိတော့ချေ။

“ကဲဟေ့၊ တူးလိုက်ကြဦးစို့ဟေ့။ ယောက်ျားဘ သားကွ”

အော်သံများ ပေါ်ထွက်လာ၏။ နှင်းခဲများ တင် လျက်ရှိသော မြေစိုက်နံရံ ကြီးသည် တဖြည်းဖြည်းနဲ့၍ ယိမ်းယိုင်စပြုလာခြင်းကို အမှောင်ထဲတွင် ဝိုးတဝါး

မြင် ရ၏။ နံရံအောက်ခြေမှ ဂျွတ်ဂျွတ်မြည်သံများ ပေါ်ထွက် လာကာ ခဏအ ကြာ၌ နံရံကြီးသည်လဲကျလာ၏။ ရယ် သံများ၊ အော်ဟစ်သံများလည်း ပေါ်ထွက် လာလေသည်။

“ကဲ နှစ်ယောက်စီတွဲပြီး မ,ကြ။ အပေါ်ကို နည်းနည်းမြှောက်ပါကွ။ ဟုတ်ပြီ ဟုတ်ပြီ။ ဟေ့ ဟိုခွေး သားက ဘာလုပ်နေတာတုံး”

“ကဲ မ,ဟေ့ နေဦးကွ။ ဘေးက သီချင်းလေး ဘာလေးတော့ ဆိုပေးဦး။ ဒါမှ အားရှိမှာပေါ့”

အသံတစ်သံက သီချင်းဆို၏။ တတ အရောက်၌ကား “ဟေးလား ယောက်ျား ယောက်ျား ဘသား”ဟူသော အသံများ ပေါ်ထွက်လာလေသည်။ သို့ရာတွင် ကြီးမားထူထဲသော နံရံကြီးမှာ တုတ်တုတ်မျှ မလှုပ်ချေ။ ခဏကြာ သောအခါ အနားယူဟန်ဖြင့် တိတ် ဆိတ် ငြိမ်သက်သွားကာ ပြင်းစွာ အသက်ရှူသံ များကို သာ ကြားရ၏။

“ ါ အမှတ် ၆ တပ်ခွဲက သွေးသောက်တွေ လာ ကူကြပါဦးဗျ။ တစ်လှည့်စီ ပေါ့”

ရွာထဲသို့ ဝင်လာသည့် အမှတ် ၆ တပ်ခွဲမှ တပ် သားနှစ်ဆယ်ခန့်သည် ဝင်၍ ကူကြ၏။ ထိုအခါကျမှ အလျားသုံးဆယ့်ငါးပေ၊ အမြင့် ခုနစ်ပေခန့်ရှိ နံရံကြီး သည် ဟောဟဲလိုက်လျက်ရှိသော တပ်သားများ၏ ပခုံး ပေါ်မှ အခွံသားလိုက်ပါလာကာ ရွာလယ်လမ်းတစ်လျှောက် တွင်’ တရွေ့ရွေ့ လှုပ်ရှားလျက် ရှိလေသည်။

“ ရှေ့က မ ပါကွ။ လွတ်ကျလိမ့်ဦးမယ်။ ဘာဖြစ်လို့ ရပ်နေရတာလဲ။ ဒီမှာ ဖြင့် သေတော့မယ်”

ဆူသံ၊ အော်သံ၊ ဆဲသံတို့သည် ဆူညံစွာ ထွက် ပေါ်လာကြပြန်၏။

"ဟေ့ ဘာဖြစ်နေကြတာလဲ" တပ်ကြပ်ကြီးတစ် ယောက်၏ တင်းမာသော အသံကို ကြားရ၏။ တပ်ကြပ် ကြီးသည် နံရံကြီးကို မ ရွှေ့ လာသော တပ်သားများ အနီး သို့ ရောက်လာသည်။

"ဒီမှာ လူကြီးတွေ ရှိတယ်ကွ။ တဲထဲမှာ ဗိုလ်ချုပ် ရှိတယ်။ သိပ်ဆူမနေကြနဲ့။ တိုးတိုးပြောလို့ မရဘူးလား။ ကဲ ဒီလောက်တောင် ဆူချင်တဲ့ကောင်တွေ"

တပ်ကြပ်ကြီးသည် လက်လှမ်းမီရာလူကို တစ် ချက်ရိုက်လိုက်၏။

အားလုံး တိတ်ဆိတ်သွားကြသည်။ အရိုက်ခံရ သော တပ်သားသည် ညည်းတွားရင်း မျက်နှာကို သုတ် နေသည်။ တပ်သားမှာ နံရံနှင့် ခြစ်မိ၍ မျက်နှာ စုတ်သွား လေသည်။

"ဘယ့်နှယ်လဲဟေ့။ တော်တော် အရသာရှိလိုက် ရဲ့လား" တစ်ယောက်က ရယ်၍ မေးလိုက်သည်။ သို့ ဖြင့် တပ်သားများသည် ယခင်ကလောက် ဆူညံခြင်း မ ရှိတော့ဘဲ နံရံကြီးကို ရွှေ့သွားကြ၏။ "

ရွာပြင်သို့ ရောက်သည့်အခါ၌ကား ခပ်စောစောက ကဲ့သို့ "ဗလွတ်ရွတ်တ' ပြောဆိုကာ ဆူညံလာကြပြန် သည်။

တပ်ကြပ်ကြီး ထွက်၍ ရိုက်သည့် တဲထဲ၌ကား ဗိုလ်ချုပ်များသည် လက်ဖက်ရည်သောက်ရင်း ယနေ့တွေ့ ကြုံခဲ့ရပုံများ၊ နက်ဖြန်တွင် ပြုလုပ်မည့် စစ်ကစားမှုများ နှင့် စပ်လျဉ်း၍ တစ်ယောက်တစ်ပေါက် ပြောဆိုလျက် ရှိကြ၏။ ၎င်းတို့၏ တပ်များသည် နက်ဖြန်တွင် တောင်ပံ လှုပ်ရှားမှု ပြုလုပ်ကာ ပြင်သစ် ဗိုလ်မှူးရတ်၏ တပ်ကို ဖြတ်တောက်ပြီးနောက် မှူးရတ်ကို လက်ရဖမ်းရန် ဖြစ်လေ" သည်။

နံရံကိုဖြုတ်၍ သယ်လာသည့် တပ်သားများ ၎င်းတို့နေရာသို့ ပြန်ရောက်သောအချိန်၌ စခန်းမီးပုံများ ဖိုပြီး ဖြစ်နေလေပြီ။ ညစာချက်ပြုတ်ရန် ပြင်ဆင်လျက် ရှိကြပေပြီ။ သစ်ကိုင်းများသည် မီးပုံထဲတွင် တဂျွတ် ဂျွတ်မြည်လျက် ရှိကြ၏။ နှင်းခဲများသည် အရည်ပျော် လျက်ရှိ၏။ နှင်းခဲများ သိပ်လျက်ရှိသော ကွက်လပ်၌ကား  တပ်သားများ၏ မည်းမည်းသဏ္ဌာန်များသည် လှုပ်ရှား လျက် ရှိကြလေသည်။

ပုဆိန်များ၊ ဓားများသည် တစ်နေရာတွင် စုပုံနေ ကြ၏။ မည်သည့်အမိန့်မျှမရဘဲ တပ်သားများသည် အားလုံး ပြင်ဆင်ပြီး ဖြစ်ကြ၏။ ထိုနေ့ညအတွက် ထင်းများ ခုတ်ခဲ့ကြပြီး ဖြစ်၏။ တပ်ဗိုလ်များအတွက် ကနဖျင်း များ ထိုးပြီးဖြစ်၏။ ညစာကို ချက်ပြုတ်ပြီးဖြစ်၏။ သေနတ် များ၊ လက်နက်ကိရိယာများကို သူ့နေရာနှင့်သူ ထားပြီး ဖြစ်၏။ • တပ်သားများသည် သယ်ယူလာခဲ့သော နံရံကြီးကို ( အမှတ် ၈ တပ်ခွဲ၏ မြောက်ဘက်တွင် ထောင်ထားကာ သေနတ်များဖြင့် ထောက်ကန်ထားကြ၏။ နံရံအနီးတွင် စခန်းမီးပုံတစ်ခုကိုလည်း ဖိုထား၏။ အိပ်တန်းဝင်ခရာ မှုတ်ခြင်း၊ တပ်သားစာရင်းခေါ်ခြင်း၊ ညစာစားခြင်းတို့ကို ပြုပြီးနောက်၌ကား မီးပုံအနီးတွင် ဝိုင်းထိုင်ကြကာ ဖိနပ် ချုပ်သူက ချုပ်၍ ဆေးအိုးရှူသူက ရှူကာ ကိုယ်တုံးလုံး ချွတ်၍ သန်းရှာသူက ရှာလျက် ရှိကြလေသည်။

# အခန်း ၈

ထိုအချိန်၌ ရုရှားတပ်များမှာ ဖိနပ်များ၊ သိုးရေအကျီ များ၊ အပေါ်ရုံအင်္ကျီများ ရှားပါးလျက်ရှိ၏။ ည၌ သုည အောက် တစ်ဆယ့်ရှစ်ဒီဂရီထိ စီးဆင်းနေသော နှင်းခဲ ပြင်ကြီးထဲ၌ အမိုးအကာမရှိ စခန်းချကြရ၏။ စားနပ် ရိက္ခာ မလုံမလောက် ဖြစ်လျက် ရှိ၏။ (တပ်ထောက်ရုံး ' သည် ထိုပြဿနာကို မည်သည့်အခါမျှ မဖြေ

ရှင်းနိုင်ပါ။) ဤသို့ မယုံနိုင်အောင် ဆိုးရွားလှသော အခြေအနေများ ၌ ရုရှားတပ်များကို မြင်ရခြင်းသည် လွန်စွာ စိတ်ပျက် နောက်ကျဖွယ် ကောင်းလိမ့်မည်ဟု ထင်ကြပေလိမ့်မည်။

သို့ရာတွင် ဤသို့မဟုတ်ချေ။ ရုရှားစစ်တပ်ကြီး သည် အပြည့်စုံဆုံး၊ အကောင်းဆုံးသော အခြေအနေ များ၌ပင် ယခုအခါလောက် ရှွင်လန်းတက်ကြွခြင်း မရှိ . ခဲ့ဖူးချေ။ ဤသို့ ဖြစ်ရခြင်းမှာ ယခုအချိန်၌ စိတ်ဓာတ် ပျက်ပြားသူ။ အားမာန်မရှိတော့သူ ဟူသမျှတို့သည် ရုရှားစစ်တပ်ကြီးမှ နေ့စဉ်နှင့်အမျှ အစုလိုက် အအုပ် လိုက် လွင့်စဉ်ကျန်ရစ်ခဲ့ကြခြင်းကြောင့် ဖြစ်လေသည်။

ခွန်အားငယ်သူ၊ စိတ်အားငယ်သူ ဟူသမျှတို့သည် ကျန် ရစ်ခဲ့ကြပြီဖြစ်ရာ စစ်တပ်ကြီး၌ "ဒေါင်ဒေါင်မြည်" လက် ရွေးစင်များသာ ကျန်ရစ်ခဲ့ကြလေသည်။

နံရံကြီးထောင်ထားသည့် အမှတ် ၈ တပ်ခွဲအနီး တစ်ဝိုက်ကား ထိုနေ့ညတပ်စခန်း၌ လူအစည်ဆုံးနေရာ ဖြစ်၏။ ထိုအနီးတွင် တပ်ကြပ်ကြီးနှစ်ယောက်လည်း ထိုင်လျက်ရှိရာ ၎င်းတို့၏ စခန်းမီးပုံသည် အခြားမီးပုံ များထက် လင်းလျက်ရှိ၏။ တပ်ကြပ်ကြီးနှစ်ယောက် သည် ၎င်းတို့မီးပုံတွင် လာ၍ မီးလှုံလိုက တစ်ယောက်လျှင် ထင်းမည်မျှ ယူခဲ့ရမည်ဟု စည်းကမ်းသတ်မှတ် ထားလေသည်။

"ဟေ့ မာကေယက်၊ ဘာအချောင်ခိုတာလဲကွ။ ခွေးသား၊ သွား ထင်းရှာချည်။ တောထဲမှာ လမ်းမှားလို့ ဝံပုလွေစာလဲ ဖြစ်နေဦးမယ်" မျက်နှာနီနီ၊ ဆံပင်နီနီနှင့် တပ်သားတစ်ယောက်က မီးခိုးသဖြင့် မျက်လုံး များကို မှိတ်ထားရင်း ပြောလိုက်သည်။ အခြားသူဦးသွား မည် စိုးသဖြင့် ထိုနေရာမှကား မထရဲချေ။ "ဟေ့ "ဟို ခွေးအ" ကော။ သွား၊ ထင်းရှာချည်ဦး"

ဆံပင်နီနီနှင့် တပ်သားသည် အခြားတစ်ယောက် ကို လှမ်းအော်ပြန်၏။ ထိုတပ်သားသည် တပ်ကြပ်ကြီး တစ်ယောက်လည်း မဟုတ်။ တပ်ကြပ်ကလေးတစ်

ယောက် လည်း မဟုတ်ချေ။ မိမိ၏ အားခွန်ဗလအားကိုးဖြင့် အားနည်းသူများကို အမိန့်ပေးနေခြင်းသာ ဖြစ်လေသည်။ "ခွေးအ'ဟု အခေါ်ခံရသူ နှာခေါင်းချွန်ချွန်၊ ပိန်ပိန်ပါးပါး တပ်သားသည် အမိန့်ကို မလွန်ဆန်ရဲဟန်ဖြင့် ထိုင်ရာမှ ထ၏။ ထိုအခိုက် ကိုယ်လုံးကိုယ်ထည်သွယ်သွယ်၊ ခန့် ညားသည့် တပ်သားကလေးတစ်ယောက်သည် ထင်းစည်း တစ်စည်းကို ထမ်း၍ မီးရောင်ထဲသို့ ရောက်လာ၏။

"အေး၊ ဟုတ်ပြီဟေ့။ ဒီကိုယူခဲ့"

တပ်သားများသည် ထင်းတုံးများကို ခွဲ၍ မီးထဲ သို့ ထိုးထည့်ပြီးနောက် တဟူးဟူးမှုတ်ကြ၏။ အင်္ကျီများ ဖြင့် ယပ်ခတ်ပေးကြ၏။ မီးတောက်များသည် တရှီးရှီး မြည်၍ တောက်စပြုလာ၏။ တပ်သားများသည် ရှေ့သို့ တိုးကာ ဆေးတံများကို ညှိကြ၏။ ထင်းစည်းထမ်းလာ သည့် တပ်သားလေးသည် လက်နှစ်ဖက်ကို ဆန့်တန်း ကာ ခြေထောက်များကို သွက်လက်စွာ လှုပ်ရှားရင်း သီချင်းတစ်ပုဒ်ကို ဆိုလျက် ရှိ၏။ . "မွေးမေ့မေတ္တာ ကြီးမားပါပေသည်၊ နှင်းပေါက် တွေ သွန်းကာဖြိုးပေစီ၊ ကျွန်တော် တစ်ယောက်တော့ တိုင်းပြည်တာဝန် ထမ်းဆောင်မည်"

"

"ဟေ့၊ မင်း ဖိနပ်က ခွာပြုတ်နေပါပကောလား ကွ။ တော်တော်အက ကောင်းတဲ့ ငနဲပဲဟေ့"

" ဆံပင်နီနီနှင့် တပ်သားက တပ်သားလေး၏ ဖိနပ်ခွာတစ်ဖက် ပြုတ်နေခြင်းကို လှမ်း၍အော်၏။ တပ် သားလေးသည် ဖိနပ်တွင် ဒရွတ်ဆွဲနေသော ဖိနပ်ခွာကို ဆွဲဖြုတ်၍ မီးထဲသို့ ပစ်ထည့်လိုက်သည်။

"ကဲ ခုကောင်းသွားပြီ မဟုတ်လား" တပ်သား လေးသည် မီးပုံဘေးတွင် ထိုင်ချကာ ၎င်း၏ ကျောပိုး အိတ်ထဲမှ အဖြူရောင် ပြင်သစ်အထည်စတစ်စကို

ထုတ် ယူကာ ခြေထောက်ကို စည်းပြီးနောက် ခြေထောက်များ ကို မီးကင်နေသည်။

"မကြာခင် ဖိနပ်သစ်တွေ၊ ခြေပတ်သစ်တွေ ထုတ်ပေးတော့မယ် ပြောတာပဲဗျ။ ပြင်သစ်ကောင်တွေကို တိုက်နိုင်ခဲ့လို့ ကျောပိုးအိတ်အသစ်တွေလဲ တစ်ယောက် နှစ်လုံးစီ ထုတ်ပေးမယ်တဲ့"

"ဒါထက် ဟိုခွေးသား ပီထရော့ဗ်လဲ ကျန်ရစ်ခဲ့ ပြီ ထင်တယ်။ မမြင်ဘူး" တပ်ကြပ်ကြီးက ဆို၏။

. "အို၊ ဒီကောင် ကျန်ရစ်ခဲ့မှာလို့ ကျုပ် အစောကြီး ကတည်းက ပြောထားသားပဲ"

"အံ့ပါကွာ။ ဒီလို ပျော့နဲ့နဲ့ကောင်ကများ စစ်ထဲ ဝင်ရသေးတယ်လို့ပဲ"

"မနေ့က အမှတ် ၃ တပ်ခွဲက လူကိုးယောက် ပျောက်ခဲ့သတဲ့"

"ပျောက်မှာပေါ့။ ခြေထောက် သွေးခဲနေတဲ့နောက် တော့ ဘယ့်နှယ်လုပ်ပြီး လမ်းလျှောက်လို့ ရတော့မှာလဲ"

"အို ဘာဆိုင်လဲကွ" တပ်ကြပ်ကြီးက ဆို၏။

"ဘာလဲ၊ မင်းကော သွေးခဲလို့ မလျှောက်နိုင်တော့ ဘူး ဆိုပြီး နေရစ်ခဲ့ချင်လို့လား" အသက် ခပ်ကြီးကြီး တပ်သားတစ်ယောက်က ဝင်၍ မာန်လိုက်သည်။

"

ဒါတော့ဗျာ။ ဘယ်တူမလဲ"

”ခွေးအ” အခေါ်ခံ ရသူတပ်သားက မီးပုံကိုကျော်၍ အသံသေးသေးကလေး ဖြင့် ပြောလိုက်သည်။ “ဒီလောက်ပင်ပန်းတော့လဲ ဘယ် “

ခံနိုင်မလဲ။ ဝတဲ့လူကတော့ ဘာအရေးလဲ။ ပိန်သွားရုံ ပေါ့။ ဒါပေ့မဲ့ ကျုပ်တို့ လို ပိန်ပိန်ကလေးကျတော့ သေ ရုံပဲ ရှိတော့တာပေါ့။ ဒီမှာဆရာ၊ ကျုပ်တော့ ဘာ ပြော ပြော မတတ်နိုင်တော့ဘူးဗျ” သူသည် တပ်ကြပ်ကြီးဘက် သို့ လှည့်၍ ပြော၏။ “ဆေးရုံတင်ပစ်ခဲ့ဖို့ တပ်ဗိုလ်ကို ပြောပေးပါ။ တစ်ကိုယ်လုံးလဲ ကိုက်နေ ပြီ။ ရှေ့ဆက် လိုက်ရင်တော့ သေမှာ မုချပဲ”

“ပြောတာပေါ့ကွာ၊ ဖြည်းဖြည်းပေါ့” တပ်ကြပ် ကြီးက ခပ်အေးအေး ပြော၏။

ဤသို့ဖြင့် အခြားစကားသို့ ရောက်သွားကြပြန် သည်။ .

”ဒီနေ့ ပြင်သစ်ကောင်တွေ မနည်းဘူး၊ ဖမ်းမိခဲ့ တာပဲဗျ။ ဒါပေမဲ့ ဖိနပ်စီး ထားတဲ့ကောင်ဆိုလို့ တစ်ကောင် မှ မပါဘူး။ တချို့လဲ အဝတ်တွေ ကြပ်စည်း သလို စည်း ထားကြတယ်။ တချို့ကတော့ ခြေထောက်မှာ ဘာဆိုဘာမှ မရှိဘူး။ ကျုပ်တော့ အံ့လို့မဆုံးဘူး”

“ဘယ်ရှိမလဲဗျ။ ရှိသမျှ ဖိနပ်တွေကို ကော့ဆက် မြင်းတပ်သားတွေ အကုန် ချွတ်ယူသွားတာကိုး။ ကော့ဆက် မြင်းတပ်သားတွေက သူတို့ ဗိုလ်မှူးကြီးအတွက် တဲတစ် လုံး ဝင်ရှင်းတော့ လားလား၊ ခင်ဗျား ပြင်သစ်ကောင် အလောင်းတွေ တုံးလုံးပက်လက်တဲ့။ မြင်လို့တောင် မကောင်းဘူးတဲ့။ တချို့လဲ မသေသေးဘူးတဲ့။ တချို့များ စကားတောင် ပြောနိုင်သေးသတဲ့” ထင်းစည်းထမ်းခဲ့ သည့် တပ်သား လေးက ပြော၏။

"အမယ်၊ ပြင်သစ်ကောင်တွေသေတော့ အလောင်း တွေက မပုပ်ဘူးတဲ့ဗျ။ ဖြူဖွေးလို့တဲ့ဗျ။ တယ်သန့်ရှင်း ဆိုကိုး။ အချို့လဲ ရုပ်ချောချောကောင်တွေ ပါသတဲ့။ ကြည့်ရတာကတော့ သူကောင်းမျိုးထဲကလဲ ပါချင်ပါလာ မှာပေါ့လေ" ပထမတပ်သားက ဆို၏။

""ဒီကောင်တွေ ကျွန်တော်တို့စကားလ် နားမလည် ဘူးဗျ၊ ကျွန်တော် ပြင်သစ်ကောင်တစ်ကောင်နဲ့ တွေ့လို့ "မင်း ဘယ်သူ့သစ္စာကိုခံသလဲ"လို့ မေးတော့ c နဲ့သား ဝူးဝါး ဝူးဝါးနဲ့ ပြန်ပြောတယ်။ ဘာတွေ ပြောမှန်းတော့ မသိဘူး"

"အေးဗျ။ ဒီကောင်တွေ အလောင်းတွေ ဘာ ကြောင့် ဖြူဖွေးနေသလဲ မသိဘူး။ တော်တော်တော့ ( ဆန်းတယ်" တပ်သားတစ်ယောက်က စဉ်းစားနေရာမှ ဆို၏။ "မိုဇဟော့ရောက်တုန်းကလဲ အဲဒီက လယ်သမား တွေက ဒီလိုပဲ ပြောကြတယ်။ လယ်သမားတွေက အလောင်းတွေ မြှုပ်ရတာကိုး။ တိုက်ပွဲကလဲ အကြီးအကျယ် ပဲလေ။ အဲဒီအလောင်းတွေဟာ မမြှုပ်ဘဲ ပိုးလိုးပက်လက် နဲ့ တစ်လလောက် ကြာသတဲ့။ ဒါပေမဲ့ အလောင်းတွေ ကြည့်လိုက်ရင် စက္ကူချပ်များလို ဖြူဖွေးနေတာပဲတဲ့။ ပုပ်လည်း မလုပ်ဘူးတဲ့"

"ကေန္တ အေးလို့ `မပုပ်တာနဲ့တူတယ်" တစ် ယောက်က ဆိုသည်။

"မှန်လိုက်လေဗျာ။ အေးလို့ မပုပ်တာပေါ့။ အပူ ထဲပစ်ထားကြည့်စမ်းပါလား။ ချက်ချင်း ပုပ်စော်နံလာမှာပဲ။ အေးလွန်းရင် ဘယ်အလောင်းဖြစ်ဖြစ် ဘယ်ပုပ်တော့ မလဲဗျ။ ဒါပေမဲ့ ခင်ဗျားပြောသလို "ကျုပ်တို့ ရုရှားတွေ အလောင်းကျတော့ ပုပ်လွန်းလို့ နှာခေါင်းကို ပဝါစည်းပြီး ဆွဲထုပ်ရတယ်။ မျက်နှာလွှဲထားရတယ်။ သူတို့အလောင်း တွေကျတော့ "စက္ကူလို ဖြူဖွေးပြီး ယမ်းနံ့လောက်မှ မနံဘူး'ဆိုတာတော့ မဟုတ်ဘူးထင်တယ်"

အားလုံး တိတ်ဆိတ်နေကြ၏။

"အစားအသောက်တွေ ကောင်းလွန်းလို့ မပုပ် မသိုးဘဲ နေတာလားမှ မသိဘဲ" တပ်ကြပ်ကြီးက ဆို သည်။ "ပြင်သစ်ကောင်တွေ စားတဲ့ အစာက တို့ဆီက သူကောင်းမျိုးတွေ စားတဲ့ အစာမျိုးကွ" • မည်သူကမျှ ငြင်းခုံခြင်း မပြုကြ။

"မိုဇဟေ့ တိုက်ပွဲဖြစ်တုန်းက အနားမှာရှိတဲ့ ရွာ ပေါင်းဆယ်ရွာက လယ်သမားတွေကို ဆင့်ပြီး အလောင်း တွေကို လှည်းနဲ့ အကောက်ခိုင်းတာပဲ။ သောက်ကျိုးနဲ့ အလောင်းတွေကို ဆယ်ရက်လောက်လှည်းနဲ့ တိုက်ထုတ် တာတောင် မကုန်ဘူးတဲ့။ ဝံပုလွေတွေဆိုရင်"

"ဟာ မိုဇဟေ့ တိုက်ပွဲမျိုးကမှ တကယ့်စစ်ပွဲကွ" စစ်သားအိုကြီးတစ်ဦးက ဝင်ပြော၏။ "ဒီလို တိုက်ပွဲမျိုး ကတော့ ငါဖြင့် တစ်သက်မှာ မမေ့တော့ဘူး။ အဲဒီ တိုက်ပွဲ နောက် တိုက်ပွဲတွေကတော့ အလကားသက်သက် လူတွေ ကို ညှဉ်းဆဲနေတာနဲ့ အတူတူပါပဲကွာ"

"အမယ်၊ အဘရေ၊ တစ်နေ့က ပြင်သစ်ကောင် တွေ လက်နက်ချပုံကတော့ အဆန်းပျို့။ ကျုပ်တို့လဲ သူ ။ တို့အနားကပ်သွားရော ပထမ အကပ်မခံဘူးါ။ သိလား။ အဲငနဲတွေ လက်နက်တွေ ပစ်ချ ဒူးထောက် ပြီးတော့မှ လာခဲ့ဆိုပြီး လက်ယပ်ခေါ်ပြတယ်။ လွတ်ငြိမ်းခွင့်ပေးဖို့ တောင်းပန်တဲ့ ကောင်ကလဲ ရှိသေးတယ်။ ဗိုလ်ချုပ် ပလာတော့ဗ်ကိုယ်တိုင် နပိုလီယန်ကို နှစ်ခါတောင် ဖမ်းမိ သတဲ့ဗျ။ ဒါပေမဲ့ နပိုလီယန် ဖမ်းမိတာ ဘာမှ အကျိုး မရှိဘူးဆိုပြီး နှစ်ခါစလုံး ပြန်လွှတ်လိုက်သတဲ့။ တောက် နာသဗျာ။ ကိုယ့်လက်ထဲရောက်ပြီးသား ငှက်ကို ပြန်လွှတ် ရတယ်လို့ပဲ။ သုံ့ပန်းထုံးစံက သူ့ကိုလဲ မသတ်ရဘူးတဲ့ဗျ"

"အိုး၊ ဘယ်က ဖမ်းမိရမှာလဲ သောက်ပြီး"

”တကယ်ပြောတာဗျ”

“ငါသာ နပိုလီယန်ကို ဖမ်းမိရင်တော့ သပ်ရိုက် သွင်းသလို မြေကြီးထဲကို အရှင်လတ်လတ် ရိုက်သွင်းပြီး သတ်မယ်။ ဘယ့်နှယ်ကွာ၊ ဒီအကောင် ဂြိုဟ်မွှေလို့ လူ တွေ သောက်သောက်လဲ သေခဲ့ရပြီ မဟုတ်လား”

“အိမ်း၊ စစ်ပွဲကြီး ပြီးတော့မှာပါကွာ။ ဒီစစ်ပွဲပြီး ရင် ဒီကောင် နောက်တစ်ခေါက် လာရဲတော့မှာ မဟုတ် တော့ပါဘူး” တပ်သားအိုကြီးက သမ်းဝေ၍ ပြော လိုက် သည်။

သို့ဖြင့် အခြားစကားများသို့ ရောက်သွားကြပြန် ၏။ အချို့တပ်သားများမှာ အိပ်ရန် ပြင်ဆင်နေကြလေပြီ။

“အလို၊ ကြယ်တွေ ကြည့်စမ်းါ။ သိပ်တောက် တာပဲ။ ကြည့်စမ်း နဂါးငွေ့တန်းကြီးကလဲ ဘယ်လောက် လှသလဲ။ မိန်းမများ ငွေချည်ထိုးပဝါကို ဖြန့် ထားသလို ပဲဗျ” • တစ်ယောက်က တုံးလုံးလှဲနေရာမှ နဂါးငွေ့တန်း ကြီးကို ကြည့်၍ ပြောလိုက်သည်။

“အဲဒါ နောက်နှစ်မှာ ကောက်ထွက်ကောင်းမယ့် နိမိတ်ပဲဗျ”

“ဟောဗျ ထင်းကုန်သွားပြီ။ နောက်ထပ် ဘယ် သွားပြီး ထင်းရှာရဦးမလဲ မ သိဘူး”

“သောက်ကျိုးနဲ့ အေးဗျာ။ နောက်ကျောလှုံရင် ရှေ့ကချမ်း၊ ရှေ့ကလှုံရင် နောက်ကချမ်း၊ တောက်”

“ဘုရား ဘုရား”

“ဟော့ ဘာဖြစ်လို့ ဒီလောက် တိုးနေရတာလဲကွ။ မီးဖိုကြီးတစ်ခုလုံး မင်း အတွက်ချည်းပဲ အောက်မေ့နေ  သလား။ သော် ဟိုဘက်ကကောင်က တိုးပြန်ပြီ”

ထို့နောက် တိတ်ဆိတ်သွားကြပြန်သည်။ ထို အတောအတွင်း အိပ်ပျော်သွား သူများဆီမှ ဟောက်သံများ ကို ကြားရ၏။ တချို့ကား ထိုမှ ဤမှ လှည့်၍ မီးလှုံ နေကြသည်။ တစ်ခါတစ်ရံ၌လည်း စကားလှမ်းပြောနေ ကြသည်။ စခန်းမှ ခြေလှမ်းတစ်ရာ အကွာဆီမှ တဝါးဝါး ပွဲကျနေသံများကို ကြားရသည်။ “

“ဟိုဘက်နားက အမှတ် ၅ တပ်ခွဲက ဘာတွေ ‘များ သဘောကျနေကြသလဲ မသိဘူး။ တဝါးဝါးနဲ့။ လူ - တွေကလဲ မနည်းဘူးဗျ။ ပုံနေတာပဲ”

တပ်သားတစ်ယောက်သည် ထ၍ အမှတ် ၅ တပ် ခွဲဆီသို့ ထသွား၏။

“ဟိုလူတွေ ပွဲကြီးပွဲကောင်း တွေ့နေတယ်ဗျ။ ပြင်သစ်နှစ်ကောင် ဝင်လာပြီး လက်နက်ချလို့။ တစ် ယောက်ကတော့ အအေးမိလို့ ပက်လက်ကြီး၊ ကျန်တဲ့ တစ် ယောက်ကတော့ တကယ့်ကို သောက်ကြွားပဲ။ စကား များလိုက်တာက လွန်လို့။ သီချင်းတွေ ဘာတွေဆိုပြီး ကခုန်တောင် နေလိုက်သေး”

“အေးဟော့ တို့များလဲ သွားကြည့်ဦးမယ်”

တပ်သားအချို့သည် အမှတ် ၅ တပ်ခွဲစခန်းဘက် ဆီသို့ ထွက်သွားကြ၏။

## အခန်း ၉

အမှတ် ၅ တပ်ခွဲသည် တောစပ်ကွင်းပြင်ထဲ၌ စခန်းချ တပ်နားလျက် ရှိ၏။ နှင်းခဲပြင်ကြီးအလယ်၌ စခန်းမီးပုံ ကြီးသည် အရှိန်ပြင်းစွာတောက်လျက်ရှိရာ

နှင်းခဲများ ဖုံးအုပ်လျက်ရှိသော တောစပ်မှ သစ်ပင်များသည် မီးရောင် ဟပ်ခြင်းကြောင့် လင်းထိန်လျက် ရှိ၏။

ညသန်းခေါင်လောက်၌ကား တောထဲရှိ နှင်းခဲပြင် ထဲမှ တစွက်စွက် လျှောက်သွားသော ခြေသံများနှင့် သစ် ကိုင်းခြောက် နင်းလာသံများကို ကြားရ၏။

“ဟော့ တောစပ်က ခြေသံကြားတယ်။ ဝက်ဝံထင် တယ်ကွ”တစ်ယောက်က ဆို၏။

မီးလှုံနေသော တပ်သားများသည် တောစပ်ဘက် ဆီသို့ လှမ်းကြည့်လိုက်ကြ၏။ ထူးဆန်းစွာ ဝတ်ဆင်ထား “

သည့် မည်းမည်းသဏ္ဍာန်နှစ်ခုသည် တစ်ခုကိုတစ်ခုတွဲ လျက် တောစပ်မှ မီးရောင်ထဲသို့ ဝင်လာကြလေသည်။

ထိုသဏ္ဍာန်နှစ်ခုကား တောထဲတွင် ပုန်းအောင်း လျက်ရှိသော ပြင်သစ်နှစ်ဦး ဖြစ်လေသည်။ ၎င်းတို့သည် ရုရှားတပ်သားများ နားမလည်သောစကားတစ်မျိုးကို ပြော ဆိုကာ မီးပုံနားသို့ ကပ်လာကြ၏။ တစ်ယောက်မှာ အရပ်ရှည်ရှည်ဖြစ်၍ တပ်ဗိုလ်ဦးထုပ်ကို ဆောင်းထားသည်။ ထိုလူမှာ လုံးဝ အားပြတ်လျက် ရှိသည်ဟု ထင်ရ၏။ မီးပုံနားသို့ ရောက်၍ ထိုင်မည်အပြုတွင်ကား ထိုလူသည် မဟာန်နိုင်တော့ဘဲ လဲကျသွားလေသည်။ တခြားတစ် ယောက်မှာမူ အရပ်ပုပု ကိုယ်လုံးတောင့်တောင့်နှင့် ဖြစ်၍ ခေါင်းတွင် ပဝါစည်းထား၏။ ထိုသူမှာ တောင့်တင်းကျန်းမာလျက် ရှိသေးသည်။ ထိုပုပုလူသည် အဖော်ကို ထူမကာ တစ်စုံတစ်ရာ ပြော၏။ ၎င်း၏ ပါးစပ်ကိုလည်း လက်ညှိုးထိုးပြ၏။ တပ်သားများသည် ပြင်သစ်နှစ်ဦးအနီး သို့ ဝိုင်းအုံလာကြကာ လူမမာအတွက် မြေကြီးပေါ်တွင် ဝတ်ရုံအကျႌကို ဖြန့်ခင်းပေး၏။ ဂျုံစေ့ပြုတ်နှင့် အရက်များ ကိုလည်း ယူလာကြလေသည်။

အားပြတ်လျက်ရှိသည့် ပြင်သစ်တပ်ဗိုလ်ကား အခြားသူမဟုတ် (မော်စကို သို့ ပြင်သစ်တို့ ဝင်ရောက်ခဲ့ စဉ်က ပီယာ၏ မိတ်ဆွေဖြစ်ခဲ့ဖူးသူ) ဗိုလ်ကြီးရမ်ဗေး ဖြစ် ၍ ခေါင်းတွင် ပဝါစည်းထားသူမှာ ၎င်း၏ တပ်လုလင်ကြီး မိုရဲဖြစ်လေသည်။

မိုရဲသည် အရက်အနည်းငယ် မော့၍ ဂျုံစေ့ပြုတ် ကို သောက်၏။ ထို့နောက်၌ကား အထူးရွှင်မြူးလာကာ ၎င်းတို့စကားများကို နားမလည်သော ရုရှားတပ်သားများ အား ကရားရေလွှတ် တတွတ်တွတ်ပြောလျက် ရှိလေ သည်။ ရမ်ဗေးမှာ အစာမစားဘဲ မီးပုံဘေးတွင် လက် ထောက်၍ လှဲရင်း ရုရှားတပ်သား များကို နီရဲသော မျက် လုံးများဖြင့် ကြည့်လျက်ရှိသည်။ တစ်ခါတစ်ရံတွင် လည်း တဟင်းဟင်း ညည်းတွားလျက်ရှိ၍ တစ်ခါတစ်ရံ၌ လည်း မလှုပ်မယှက် ငြိမ် သက်နေပြန်၏။ မိုရဲက ရမ်ဗေး သည် တပ်ဗိုလ်တစ်ယောက်ဖြစ်၍ ၎င်းကို ဂရုတစိုက် ပြုစုစေလိုသည့် ဟန်ဖြင့် ပခုံးရှိ ရာထူးတံဆိပ်တပ်သော နေရာကို လက်ဖြင့် ထောက်ပြ၍ ပြောပြလျက် ရှိသည်။ မီးပုံအနီးသို့ ရောက်လာသည့် ရုရှား တပ်ဗိုလ်တစ်ဦးသည်  တပ်သားတစ်ယောက်ကို ဗိုလ်မှူးကြီးထံသို့ စေလွှတ်၍ ပြင် သစ်တပ်ဗိုလ်တစ်ဦးမှာ အသည်းအသန်ဖြစ်လျက် ရှိ ကြောင်း၊ ထို့ကြောင့် ၎င်း၏ တ်တွင် ထားခွင့်ပြုမည် မပြု မည်ကို သိလိုကြောင်းဖြင့် အစုံစမ်းခိုင်းလိုက်၏။ ခဏ ကြာသော် တပ်သားပြန်ရောက်လာ၍ ဗိုလ်မှူးကြီးက ခွင့် ပြုကြောင်း ပြော သည့်အတွက် ရမ်ဗေးကို ထိုတ်ဆီသို့ ပို့ရ၏။ ရမ်ဗေးသည် ထိုင်ရာမှထ၍ လမ်းလျှောက်မည် ပြု၏။ သို့ရာတွင် မလျှောက်နိုင်တော့ချေ။ ယိုင်လဲကျ လာမည် ပြုသည့်အတွက် တပ်သားတစ်ယောက်က ဆီး ( ဖမ်းထားလိုက်ရ၏။ ..

”ဘယ့်နှယ်လဲကွ ပြင်သစ်ဗိုလ်၊ နောက်လာရဲပါဦး ( မလား”

တပ်သားတစ်ယောက်က မျက်စိတစ်ဖက် မှိတ်ပြ ကာ ရမ်ဗေးကို နောက် ပြောင်၏။

"ဟော့ကောင်၊ တစ်ဖက်သား ဒုက္ခရောက်နေချိန် မှာ ဒီလိုမလုပ်ပါနဲ့ကွ ခွေးသား" အားလုံးက နောက် ပြောင်သည့် တပ်သားကို ဝိုင်း၍ မာန်ကြ၏။

တပ်သားများသည် ရမ်ဖေးကို ဝိုင်းအုံလျက် ရှိ ကြ၏။ တပ်သားနှစ်ယောက်က လက်ချင်းဆက်၍ ခံထား ၊ ပြီး အခြားတပ်သားများက ရမ်ဖေးကို ပွေ့တင်ပေးကြ ၏။ ထို့နောက် တဲဆီသို့ ယူသွားကြ၏။ ရမ်ဖေးသည် တပ်သားနှစ်ယောက်၏ လည်ပင်းကို တစ်ဖက်တစ်ချက် သိုင်းလျက် ညည်းတွား၍ လိုက်ပါသွားလေသည်။ "

"သွေးသောက်တို့ ကျေးဇူးကြီးပါပေတယ်ဗျာ။ ရန်သူလို့သာ ပြောရတာ မိတ်ဆွေတွေပါပဲ။ မောင်မင်း ကြီးသားများ လူစိတ်ရှိပါပေတယ်။ ကိုယ်ချင်းစာစိတ် ရှိပါပေတယ်" ရမ်ဖေးသည် ကလေးတစ်ယောက်ကဲ့သို့ ခေါင်းကို တပ်သားတစ်ယောက်၏ ပခုံးတွင်မှီကာ တတွတ် တွတ် ရွတ်ဆိုလျက် ရှိသည်။

ထိုအတောအတွင်း၌ကား မိုရဲသည် မီးပုံအနီးတွင် ( အကောင်းဆုံးနေရာ၌ ထိုင်လျက်ရှိ၏။ ၎င်း၏ ဘေးမှ လည်း တပ်သားများ ဝိုင်းအုံလျက် ရှိသည်။ : မိုရဲသည် အရပ်ပုပု၊ ကိုယ်လုံးတောင့်တောင့်ဖြစ် ၏။ ၎င်း၏မျက်လုံးများသည် နီရဲလျက်ရှိကြ၏။ မိုရဲသည် မိန်းမဝတ်ရုံတစ်ထည်ကို ဝတ်ထားကာ ခေါင်း၌လည်း မိန်းမများကဲ့သို့ ပဝါကို မေးသိုင်း၍ ချည်ထားလေသည်။

ယခုအချိန်တွင် မိုရဲမှာ အတော် "ထွေ' လျက်ရှိသည့် အလျောက် ပြင်သစ်သီချင်းတစ်ပုဒ်ကို အသံကွဲများဖြင့် ဆိုလျက်ရှိသည်။ လက်တစ်ဖက်ကလည်း အနီးရှိ တပ်သား တစ်ဦး၏ ပခုံးကို ဖက်ထားသည်။ တပ်သားများသည် မိုရဲကို ဝိုင်းကြည့်လျက် ရှိကြ၏။

"ဆိုပါဦးကွ၊ ဟော့လူဆိုပါဦး။ တို့များလဲ ဆိုတတ် ချင်လို့ပါ။ ရတော့မယ်ကွ။ ရခါနီးနေပြီ" သီချင်းဆို ဝါသနာပါသည့် တပ်သားတစ်ယောက်က တိုက်တွန်း၏။

"စတုတ္ထမြောက် ဟင်နရီဘုရင်ကြီးသည် ရဲစွမ်း သတ္တိအရာမှာ စံရှား လောက်ပေသည်"ဟူသော ပြင်သစ် သီချင်းကို မိုရဲသည် ဆိုလျက်ရှိ၏။ မျက်လုံး ကိုလည်း မှိတ်ပြ၏။ သီချင်းဆို ဝါသနာပါသော တပ်သားသည် ထိုသီချင်းကို လိုက် ဆို၏။ တကယ်ပင် တေးသွားကို ရခါနီးနေပေပြီ။

"ဟုတ်ပြီကွ ကြိတ်လိုက်ကွ။ ဟား ဟား" ရယ် သံများ ပေါ်ထွက်လာ၏။

မိုရဲသည် မျက်နှာကို ရှုံ့ပြကာ ရယ်၏။ "အေး ဆိုပါကွ ဆိုပါ"

"အသောက်လဲ ရသည်။ အတိုက်လဲ ရသည်။ ရဲရင့်သတ္တိလဲ ပြည့်စုံသည်။ ထို သုံးပါးနှင့် ညီညွတ်ပေ သည်"

"ဟုတ်ပြီ၊ ရပြီးဆိုကွ။ ဟေ့ ဇလာတိ၊ ဆိုပါကွ"

"ဒါဒီ ဒါဒါ၊ လာ ဒါဒါ၊ ဒီဒီ ဒီ" ဇလာတိ ဆိုသူ တပ်သားက ဆိုကြ၏။

"နိုပ်တယ်မောင့်။ တကယ့် ပြင်သစ်များ ဆိုနေ သလား အောက်မေ့ရတယ်။ ဒါ့သွေးသောက်၊ ဘာစား ဦးမလဲ"

"ဂျုံစေ့ပြုတ်နည်းနည်း ထပ်ပေးပါဦးကွ။ အစာ ငတ်ပြတ်ပြီးရင် ဘယ်လောက်ပဲ စားရ စားရ မဝဘူး"

တပ်သားများသည် မိုရဲကို ဂျုံစေ့ပြုတ်များ ထပ် ပေးကြ၏။ မိုရဲသည် တဟဲ ဟဲရယ်ကာ တတိယမြောက် ခွက်ဖြစ်သော ဂျုံစေ့ပြုတ်ကို သောက်လျက်ရှိ၏။ တပ် သားလေးများသည် အားရပါးရ စားသောက်နေသော မိုရဲကို ပြုံးကြည့်နေကြ သည်။ အသက်ခပ်ကြီးကြီးတပ် သားများကား "ကလေးကလား" ကိစ္စမျိုးတွင် ပါဝင်ဖို့ မသင့်ဟု ယူဆဟန်ဖြင့် မီးပုံတစ်ဖက်တွင် လှဲနေကြ၏။ သို့ရာတွင် အချင်းချင်း လက်တို့၍ မိုရဲကို ပြုံးကြည့်နေ ကြသည်။

"အိမ်း၊ သူတို့လဲ လူတွေပဲ မဟုတ်လား။ ဒန့်ကျွဲ ပင်တောင်မှ သူ့အမြစ် ကလေးနဲ့ သူရှိသေးတယ် မဟုတ် လား" တစ်ယောက်က ဝတ်ရုံအကျႌကို ပြင်ခြုံ၍ ပြော၏။

"အလို၊ ကြည့်စမ်းဗျာ။ ကြယ်တွေ တော်တော်စုံ တာပဲ။ နည်းတဲ့ကြယ်တွေ မဟုတ်ဘူး။ ကြယ်စုံပုံထောက် ရင် ဒီနှစ်တော့ နှင်းခါးကြီး ကျလိမ့်မယ် ထင် တယ်"

၎င်းတို့သည် တိတ်ဆိတ်စပြုလာကြ၏။ ကြယ်ပွင့် များသည် မိမိတို့အား မည်သူကမျှ စောင့်ကြည့်နေခြင်း မပြုသည်ကို သိသကဲ့သို့ နက်မှောင်သော ကောင်းကင် ကြီးထဲ၌ ကစားမြူးထူးလျက် ရှိကြ၏။ ဝင်းခနဲ လက် သွားချည်၊ မှိန်ခနဲ ဖြစ်သွားချည်၊ မှိတ်တုတ်မှိတ်တုတ်ပြု ချည် ဖြစ်လျက်ရှိကြ၏။ ကြယ်ပွင့် ကလေးများသည် ဝမ်းသာဖွယ် သတင်းထူးကြီးတစ်ခုကို တစ်ဦးနှင့်တစ်ဦး တီးတိုး ပြောဆိုနေကြသကဲ့သို့ ရှိလေသည်။

# အခန်း ၁၀

ပြင်သစ်စစ်တပ်ကြီးသည် ဂဏန်းသင်္ချာ တိုးတက်မှုနှုန်း ထားအတိုင်း ပြို ကွဲပျက်စီးလျက် ရှိ၏။ ဘီရဲဇီနာမြစ်ကို ဖြတ်ကူးခြင်းသည် ပြင်သစ်စစ်တပ်ကြီး၏ ကံကြမ္မာကို အဆုံးအဖြတ်ပြုသည့် နောက်ဆုံးအဆင့်ဖြစ်သည်ဟု ရာဇဝင်ကျမ်းက ဖော်ပြကြလေသည်။ သို့ရာတွင် ဘီရဲဇီနာ တိုက်ပွဲသည် နောက်ဆုံးအဆင့် မဟုတ် သေးချေ။ လမ်း ခုလတ်မှ အဆင့်တစ်ဆင့်သာ ဖြစ်လေသည်။ သို့ဖြစ်လျှင် ဘီရဲဇီ နာတိုက်ပွဲကို ရာဇဝင်ဆရာများက မည်သည့်အတွက် . ကြောင့် ရေးကြီးခွင်ကျယ် လုပ်၍ ဖော်ပြခဲ့ကြသနည်း။ မည်သည့်အတွက်ကြောင့် ယခုတိုင် ဝိတ္တာရချဲ့၍ ရေးသား ကြသနည်း။ ပြင်သစ်ရာဇဝင်ဆရာများနှင့် ရုရှားရာဇဝင် ဆရာများက ထို တိုက်ပွဲအကြောင်းကို အကျယ်တဝင့် . ရေးသားကြခြင်းမှာ သူတို့အကြောင်းနှင့် သူတို့ဖြစ်လေ သည်။ ပြင်သစ်စစ်တပ်ကြီးအခြေအနေဆိုး အမျိုးမျိုးကို တစ်လျှောက်လုံး တစ်မျိုးပြီးတစ်မျိုး ကြိတ်မှိတ်ကျော်လွှားခဲ့ သော်လည်း ဘီရဲဇီ နာမြစ်ကို ဖြတ်ကူးသည့် တံတားပျက် အနီး၌ကား အခြေအနေဆိုးဟူသမျှသည် တစ်သက်တွင်  မမေ့နိုင်လောက်အောင် စုပြုံကျရောက်ခဲ့လေသည်။ ထို့ ကြောင့် ပြင်သစ်ရာဇဝင်ဆရာများက ထိုတိုက်ပွဲကို အကျယ် ဝိတ္တာရ ချဲ့နေကြခြင်း ဖြစ် လေသည်။ ရုရှား ရာဇဝင်ဆရာ တို့က ထိုတိုက်ပွဲအကြောင်းကို အကြီးအကျယ် ရေးသား ကြခြင်းမှာ ထိုတိုက်ပွဲသည် နပိုလီယန်ကို လက်ရဖမ်း မည်ဟု အားခဲ ထားသော တိုက်ပွဲဖြစ်သောကြောင့် ဖြစ်လေ သည်။ ထိုစီမံကိန်းကြီးကို (၎င်း စီမံကိန်းကို စီမံကိန်း ရေးစားသူ ဗိုလ်ချုပ်ဖူးဝဲလ်ပင် ရေးဆွဲပါသည်။) စစ်တလင်း နှင့် အလှမ်းကွာသော ပီတာစဘတ်ရွှေမြို့တော်တွင် ရေး ဆွဲခဲ့ခြင်း ဖြစ်လေသည်။ ရုရှား စစ်ဗိုလ်ချုပ်များ အားလုံး သည် စီမံကိန်းအတိုင်း တစ်သဝေမတိမ်း ဖြစ် လိမ့်မည် ဟု မျှော်လင့်ထားကြ၏။ ထို့ကြောင့် ဘီရဲဇီနာမြစ်ကို ဖြတ် ကူးခြင်းသည်

ပြင်သစ်စစ်တပ်ကြီး၏ ကံကြမ္မာကို အဆုံး အဖြတ်ပြုသော အဖြစ်အပျက် ဖြစ်သည်ဟု လိုရာကို ဆွဲ ၍ ပြောနေကြခြင်း ဖြစ်လေသည်။ အမှန်၌ကား ဘိုရိုဒီနာ တိုက်ပွဲ၌ ပြင်သစ်တို့၏ အဆုံးအရှုံးမှာ ကရပ်စနိုတိုက်ပွဲ လောက်ပင် (လူအင်အားရော၊ လက်နက်ပါ) အဆုံးအရှုံး များပြားခြင်းမရှိချေ။ ဤအချက်ကို စာရင်းများက ပြသ လျက် ရှိပေသည်။

မှန်ပါသည်။ ဘိုရိုဒီနာတိုက်ပွဲ၏ အရေးကြီးခြင်း ကို ကျွန်ုပ်လက်ခံပါသည်။ သို့ရာတွင် ကျွန်ုပ်လက်ခံပုံ မှာ ပြင်သစ်ရာဇဝင်ဆရာများနှင့် မတူပါ။ ရုရှားရာဇဝင် ဆရာများနှင့်လည်း မတူပါ။ ဘိုရိုဒီနာ တိုက်ပွဲကို အရေးကြီး သည့် တိုက်ပွဲကြီး တစ်ခုဟု ကျွန်ုပ် ယူဆခြင်းမှာ အခြား ကြောင့် မဟုတ်။ ထိုတိုက်ပွဲသည် ရန်သူ၏ ဆုတ်စစ် ကြောင်းကို ဖြတ်တောက်ရမည်ဟူသော စီမံကိန်းမှာ သွက် သွက်လည် အောင် မှားနေခြင်းကို အခိုင်အမာပြလိုက်သော တိုက်ပွဲတစ်ခုဖြစ်သောကြောင့် ဖြစ်ပါသည်။ ရန်သူကို ဖြတ်တောက်ခြင်းမပြုဘဲ နောက်က အရောင်ပြ၍ လိုက် ခြင်းသည်သာ အကောင်းဆုံးသော ထိုးစစ်ဖြစ်သည်ဟူသော စစ်သေနာပတိချုပ် ကူတူဇော့ဗ်နှင့် ရုရှားတပ်သားထုကြီး (ဗိုလ်ချုပ်များမပါ) ၏ လုပ်ငန်းစဉ် မှန် ကြောင်းကို အခိုင် အလုံပြသလိုက်သော တိုက်ပွဲဖြစ်ခြင်းကြောင့် ဖြစ်ပါသည်။ ထို အချက်များကြောင့်သာ ဘိုရိုဒီနာတိုက်ပွဲသည် အရေးကြီး သော တိုက်ပွဲဖြစ်သည် ဟု ကျွန်ုပ် ယူဆခြင်း ဖြစ်ပါသည်။ ပြင်သစ်အုပ်ကြီးသည် သည့်ထက်သည် လျင်မြန်သော နှုန်းထားဖြင့် ထွက်ပြေးလျက်ရှိကာ ၎င်းရည်ရွယ်ချက် အောင်မြင် ရေးအတွက် ရှိသမျှ စွမ်းအားထုတ်လျက် ရှိ ပေသည်။ ပြင်သစ်စစ်တပ်ကြီးသည် ဒဏ်ရာရသော တိရစ္ဆာန်ကြီးတစ်ကောင်သဖွယ် တစ်ဟုန်ထိုး ထွက်ပြေး လျက် ရှိ ခြင်းကြောင့် ၎င်းကို လမ်းမှ ဆီးပိတ်၍ ရနိုင် မည် မဟုတ်ချေ။ ရုရှားတို့သည် လမ်း မှ ဖြတ်တောက် ရန် အကြံဖြင့် ဘိုရိုဒီနာမြစ်ကို ဖြတ်ကူးသည့် တံတားများ ကို ဖောက်ခွဲပစ်ကြ၏။ သို့ရာတွင် အချည်းနှီးသာ ဖြစ် လေသည်။ တံတားများ၊ ပျက်စီး

လျက်ရှိခြင်းကို တွေ့သည် ၌ လက်နက်မပါသော ပြင်သစ်တပ်သားများ၊ မော်စကို မှ လိုက်ပါလာသော ပြင်သစ်တပ်များ၊ သားသည်အမေ ပြင်သစ် အမျိုးသမီး များသည် အညှံ့ခံခြင်း မပြုကြဘဲ တွေ့ရာလှေများကို လှော်ခတ်၍ လည်းကောင်း၊ ရေခဲ လျက်ရှိသောနေရာများမှ လည်းကောင်း၊ မြစ်ကိုဖြတ်ကူး ၍ ဆက်လက် ထွက်ပြေးကြသည်သာ ဖြစ်လေသည်။ ဤ အချက်ကိုထောက်သော် ဒဏ်ရာရလာ သော တိရစ္ဆာန်ကို လမ်းမှ ဆီးပိတ်၍ မနိုင်ကြောင်းကို သိနိုင်လောက်ပေပြီ။

ပြင်သစ်တို့ ဤသို့ အညှံ့မခံဘဲဖြစ်သည့်နည်း ဖြင့် ဘီရဲဇီနာမြစ်ကို ထွက်ပြေးကြခြင်းမှာလည်း သူတို့ အကြောင်းနှင့် သူတို့ ခိုင်လုံသည်သာ ဖြစ်လေ သည်။ ထိုအချိန်၌ ပြေးသူ (ပြင်သစ်) နှင့် လိုက်သူ(ရုရှား)တို့၏ ( အခြေအနေမှာ "ပိန်မသာ၊ လိန်မသာ ဖြစ်ပေသည်။

ပြင်သစ်တို့အဖို့ မိမိတို့အစုအအုပ်မပျက်ဘဲ နေနိုင်က မိမိတို့အချင်းချင်း တစ်ဦးမှတစ်ဦး အကူအညီ ရနိုင်သေး သည်ဟု မျှော်လင့်နိုင်ပေသေးသည်။ ကံတူ အကျိုးပေး ခြင်းဖြစ်၍ နှစ်သိမ့်နိုင်ပေသေးသည်။ သို့ရာတွင် ရုရှားတို့ ထံ လက်နက်ချ အညှံ့ခံလျှင်ကား ငတ်ပြတ်ခြင်း၊ အအေး ဒဏ်ခံစားရခြင်း စသည့် အခြေအနေဆိုးများနှင့်ပင် အလား တူ ရင်ဆိုင်ရရုံမျှမက ရန်သူသုံ့ပန်းဆိုကာ "လူ စာရင်း" မသွင်းဘဲ အထားခံရမည့် အရေးကလည်း ရှိပေသေးသည်။ ရုရှားတို့လက် သို့ သုံ့ပန်းအဖြစ် အဖမ်းခံလျှင် အစာရေစာ ဝလင်စွာ စားသောက်ရ၍ နွေးနွေးထွေးထွေး နေရလိမ့် မည်ဟု မျှော်လင့်၍ မဖြစ်နိုင်ချေ။ (ရုရှားတို့ ကိုယ်တိုင် ပင် ဤခြေအနေဆိုးများကို ရင်ဆိုင်နေရသည် မဟုတ် လော။) ရုရှား တို့သည် ပြင်သစ်သုံ့ပန်းများကို သုံ့ပန်းတို့ ၏ ထုံးတမ်းစဉ်လာနှင့်အညီ စောင့်ရှောက်လိုသောဆန္ဒ ရှိသော်လည်း မည်သို့မျှ မတတ်နိုင်ကြောင်းကို ပြင် သစ် တို့ သိပြီး ဖြစ်ပေသည်။ ရုရှားတို့လက်၌ ပြင်သစ်သုံ့ပန်း တစ်ဝက်ကျော် ငတ် ပြတ်၍ လည်းကောင်း၊ အအေးမိ၍ လည်းကောင်း၊ သေဆုံးခဲ့ကြောင်းကို ပြင်သစ်

တို့ သိပြီး ဖြစ်ပေသည်။ သို့ဖြစ်ရကား ထွက်ပြေးသည်ဖြစ်စေ၊ အဖမ်း ခံသည်ဖြစ်စေ ငတ်ပြတ်၍ အအေးမိသေတော့မည့်အတူတူ မည်သည့်အတွက်ကြောင့် ရုရှားတို့ထံ အညံ့ခံတော့မည် နည်း။ ရုရှားတပ်မှူးများအနက် သနားကြင်နာတတ်သော တပ်မှူးများ၊ ပြင်သစ်တို့ကို မျက်နှာသာပေးသူများနှင့် တကွ ရုရှားစစ်တပ်တွင် အမှုထမ်းနေသည့် ပြင်သစ်များ ကိုယ်တိုင် ပြင်သစ်သုံ့ပန်းများအတွက် မည်သည့် အကူအညီ မျှ မပေးနိုင်တော့ချေ။ ဤသို့ဖြင့် ရုရှားစစ်တပ်ကြီး ကြုံ တွေ့နေရသော ငတ်မွတ်ခြင်း၊ အေးမြခြင်း စသည့် အန္တ ရာယ်တို့ကို ပြင်သစ်တို့လည်း ရင်ဆိုင်နေရလေသည်။ ဆာလောင်မွတ်သိပ်လျက်ရှိသော ရုရှားတပ်များထံမှ ပေါင် မုန့်များ၊ အဝတ်အထည်များကို ပြင်သစ်သုံ့ပန်းများသို့ - ခွဲပေး၍လည်း မဖြစ်တော့ချေ။ မုန်း၍ အန္တ ရာယ်ကြီး၍ အပြစ်ရှိ၍ မပေးနိုင်ခြင်း မဟုတ်ပါ။ မိမိတို့ ကိုယ်တိုင် လောက်ခြင်း မရှိတော့သည့်အတွက်ကြောင့် ဖြစ်ပါသည်။ ထို့ကြောင့် ၎င်းတို့ကို ဥပေက္ခာပြုရတော့မည်သာ ဖြစ်လေ သည်။ အချို့သော ရုရှားတပ်မှူးများက မိမိတို့တပ်မှ အဝတ်အထည်များ၊ ရိက္ခာများကို သုံ့ပန်းများအား ဝေခွဲ ပေးပါသေးသည်။ သို့ရာတွင် ၎င်းတို့မှာ အနည်းစုသာ ပြင်သစ်တို့အဖို့ နောက်တွင် ချန်နေရစ်လျှင် ပျက်စီးခြင်း အမျိုးမျိုးနှင့် တွေ့ခဲ့ရပြီ ဖြစ်သော်လည်း ရှေ့သို့ ဆက်လက်သွားလျှင်ကား မျှော်လင့်ချက် ရှိပေသေး သည်။ ၎င်းတို့၏ လှေများကို မီးရှို့ဖျက်ဆီးပြီးခဲ့လေပြီ။ ပြင်သစ်တို့အဖို့ ဤသို့ တစုတပြုံးတည်း ထွက်ပြေးခြင်းမှ အပ အခြားလွတ်မြောက်ကြောင်း လမ်းမရှိတော့ချေ။ ထို့ကြောင့်လည်း ပြင်သစ်တို့သည် အားကုန်ဖျစ်ညှစ်၍ ထွက်ပြေးလျက် ရှိကြခြင်း ဖြစ်လေသည်။

ပြင်သစ်တို့ ဆက်၍ပြေးသည်နှင့်အမျှ ၎င်းတို့၏ အခြေအနေမှာလည်း ဆိုး၍ဆိုး၍သာ လာခဲ့၏။ အထူး သဖြင့် (ပီတာစဘတ်ရွှေမြို့တော်မှ ချမှတ်သည့် စီမံကိန်း ကြီး အကောင်အထည်ပေါ်လိမ့်မည် အထင်ဖြင့်) ရုရှား ဖြစ်ပေသည်။ ဗိုလ်ချုပ်များ အထူးအာသီသထားနေကြသော ဘီရဲနာ တိုက်ပွဲပြီးသည့်နောက်၌

ပြင်သစ်တို့ အခြေအနေမှာ ဆိုသည်ထက် ဆိုးလာခဲ့လေသည်။ ပြင်သစ်တို့ အခြေအနေဆိုးလာသည်နှင့်အမျှလည်း ရှုရှားဗိုလ်ချုပ်များအဖို့ နပိုလီယန်ကို လက်ရဖမ်းလိုသော ဆန္ဒသည် ကြီးမားသည် ထက် ကြီးမားလာခဲ့၏။ ထင်ကြေးမကိုက်သည့်အခါ၌ ကား ထိုဗိုလ်ချုပ်များသည် တစ်ဦးကိုတစ်ဦး အပြင်ဖို့ကြ ၏။ နောက်ဆုံးတွင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို သာ ဝိုင်း၍ အပြစ်ဖို့ကြလေသည်။ ပီတာစဘတ် ရွှေနန်း တော်ကြီးက ချမှတ်ပေးလိုက်သော နပိုလီယန်ကို ဖမ်းရေး စီမံကိန်းကြီး မအောင်မြင်ရခြင်းမှာ စစ်သေနာပတိချုပ် ကူတူဇော့ဗ် ကြောင့်သာ ဖြစ်သည်ဟု ယူဆကာ ၎င်းကို မကျေမနပ် ဖြစ်ကြလေသည်။ ကဲ့ရဲ့ ခြင်း ပြုကြလေသည်။

လှောင်ပြောင်ခြင်း ပြုကြလေသည်။ ရင့်ရင့်သီးသီး ထုတ် ဖော်ပြောဆိုခြင်း ပြုကြလေသည်။ သို့ရာတွင် လေးစားမှု မပျက်ဟန်ပြ၍ သွယ်ဝိုက်သည့်နည်းဖြင့် ပြောင်လှောင် ကဲ့ရယ်ကြခြင်း ဖြစ်ရကား စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် မရိပ်မိရှာချေ။ စစ်ဗိုလ်ချုပ်များသည် ကူတူဇော့ဗ် ကို လေးနက်စွာ စကားပြောဆိုခြင်း မပြုတော့ချေ။ ၎င်း ထံ အစီရင်ခံသည့်အခါတွင် လည်းကောင်း စစ်ဗိုလ်ချုပ်များ၏ အမူအရာမှာ ဝတ္တရားရှိ၍သာ ပြုလုပ်နေရသော် လည်း စိတ်မပါသည့် အမူအရာမျိုးကို ပြလျက် ရှိကြ၏။ ကွယ်ရာ၌ကား စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကို ကဲ့ရဲ့ သင်္ကြိုဟ်ပြုလျက် ရှိကြလေသည်။

စစ်ဗိုလ်ချုပ်များသည် စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်ကို နားလည်နိုင်ကြမည် မဟုတ်ချေ။ ၎င်းတို့၏ စိတ်၌ ထိုအဘိုးကြီးနှင့် စကားပြော၍ မည်သို့မျှ အကျိုး မထူးဟု ယူဆကြပုံရ၏။ ထိုအဘိုးကြီးသည် မိမိတို့ စီမံ ကိန်းများ၏ အဓိပ္ပာယ် လေးနက်ကြီးကျယ်ခြင်းကို မည် သည့်အခါမျှ သဘောပေါက်မည် မဟုတ်ဟုလည်း ၎င်း တို့ ထင်ကြပုံရသည်။ မည်မျှ အရေးကြီးသော စီမံကိန်း ကို တင်ပြစေကာမူ ထိုအဘိုးကြီးသည် “ရွှေတံတား၊ ငွေတံတားခင်းပေးခြင်း”ဟူသော

စကားစု (၎င်းတို့စိတ် ၌ အဓိပ္ပာယ်မရှိသော စကားစုသက်သက်ဟုသာ ထင်၏။) ကိုသာ ပြောလိမ့်မည်ဟု ၎င်းတို့ ထင်ကြပုံရသည်။ ဤ သို့သော ဝေ်ပြတ်စုတ်ချာ လျက်ရှိသော လူအုပ်ကြီးနှင့် ရုရှားနယ်စပ်တစ်ဖက်သို့ လိုက်တိုက်၍ မဖြစ်ကြောင်း ပြောဆိုလိမ့်မည်ဟု ၎င်းတို့ ယူဆကြပုံရသည်။ စစ်ဗိုလ်ချုပ်များသည် ယခင်ကလည်း ထိုစကားများကို ကြားခဲ့ဖူး လေပြီ။ မိမိတို့က ကျွမ်းကျင်လိမ္မာ၍ "ပညာသားပါ"သော စီမံကိန်းများကို တင်ပြချိန်၌ ထိုအဘိုးကြီးသည် (စားနပ် ရိက္ခာများရောက်အောင် စောင့်ရမည်။ တပ်သားများတွင် ဖိနပ်များ မရှိ။) ဟူသော ရိုးအ၍ "ပညာသားမပါ'သည့် စကားများကိုသာ ထပ်တလဲလဲ ပြောဆိုလျက် ရှိသည် ဟု ၎င်းတို့စိတ်၌ ထင်နေကြပုံရသည်။ (ဤအဘိုးကြီး ကားအိုမင်းမစွမ်းရှိကာ ဆင်ခြင်တုံတရား ကင်းမဲ့လျက် ရှိလေပြီ။ ငါတို့မှာ အကြောင်းကံ မသင့်၍ သေနာပတိ ချုပ်ရာထူးအာဏာကို မရသော်လည်း သေနင်္ဂဗျူဟာအတတ်ပညာ၌ တေဒင်ရသူများ ဖြစ်သည်။) ဟုလည်း ၎င်းတို့စိတ်၌ ထင်နေကြပုံရလေသည်။

ရုရှားစစ်တပ်ကြီးသို့ ရွှေနန်းတော်ကြီးမှ အထူး စေလွှတ်လိုက်သော ဗိုလ်ချုပ်ဝပ်ဂျင်စတိန်း ရောက်ရှိလာ သည့်အခါ၌ကား စစ်ဦးစီးဌာနချုပ်၌ ဤသို့သော "အတင်း အဖျင်းစကားများ"နှင့် ကူတူဇော့ဗ် ဆန့်ကျင်ရေးစိတ်ဓာတ် သည် အထွတ်အထိပ်သို့ ရောက်လာခဲ့လေပြီ။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် ဤအခြင်းအရာကို မြင်သော အခါ သက်ပြင်းချရုံမျှသာချ၍ ပခုံးကို တွန့်မိ၏။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် တိုက်ပွဲစဉ်တစ်လျှောက်လုံး အေးဆေးစွာ နေခဲ့သော်လည်း ဘီရဲဇီနာ တိုက်ပွဲပြီးသည့် နောက်၌ကား ပထမဆုံးအကြိမ် ဒေါသထွက်လျက် ဗိုလ် ချုပ်ဘင်နစ်ဆန်ထံသို့ (၎င်းမှာ ရွှေနန်းတော်ကြီးနှင့် တိုက် ရိုက်အဆက်အသွယ် ပြုလုပ်နေသူဖြစ်သည်။) အောက်ပါ စာကို ရေးသားကာ တပ်တော်မှ အခြားသို့ ပြောင်းရွှေ့ပစ် လိုက်လေသည်။

. “သွေးသောက်ကြီး၏ ကျန်းမာရေး အခြေအနေ ကောင်းမွန်ခြင်း မရှိသည့် အလျောက် ဤစာချွန်ကို ရလျှင် ရခြင်း ကာလူဂါသို့ ထွက်ခွာသွားစေလိုသည်။ ဘုန်းတော် ကြီးသော ရွှေနန်းရှင်ဘုရားက သင့်အား မည်သည့်ရာထူး ဘွဲ့ခန့်အပ် ခြင်း ပြုတော်မူမည်ကို မသိရသေး။ နောက် ထပ် အမိန့်ကို ကလူဂါမှ စောင့်ဆိုင်း စေလိုသည်”ဟူ၍ ထိုစာချွန်၌ ပါရှိ၏။

သို့ရာတွင် ဗိုလ်ချုပ်ကြီး ဘင်နှစ်ဆန်ကို ရာထူးပယ် ရှားလိုက်ပြီး သည့်နောက် ၎င်း၏နေရာတွင် အိမ်ရှေ့ ဥပ ရာဇာမင်းသားကြီး ဇာရီဗစ် ရောက်ရှိ လာလေသည်။ အိမ် ရှေ့ ဥပရာဇာ မင်းသားကြီးဇာရီဗစ်သည် တိုက်ပွဲအစ တွင် ပါဝင်ခဲ့သော်လည်း ထိုနောက်၌ စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ နုတ်ပယ်ခြင်း ကို ခံခဲ့ရ၏။ ယခုတစ်ဖန် ရုရှား တပ်မတော်ကြီးသို့ ပြန်လည်ရောက်ရှိလာသည့် အခါ ၌ကား ရွှေနန်းတော်ကြီးသည် တပ်မတော်ကြီး အောင်ပွဲ အရနည်းခြင်းနှင့် တပ်မတော်များ၏ ချီတက်မှု နှေးကွေး ခြင်းကြောင့် များစွာ စိတ်မချမ်းမြေ့ဖြစ် လျက် ရှိကြောင်းဖြင့် အိမ်ရှေ့မင်းသားကြီး ဇာရီဗစ်က စစ်သေနာပတိချုပ်ကူတူ ဇော့ဗ်အား ပြောပြလေသည်။ ဘုန်းတော်ကြီးသော ရွှေနန်း ရှင်ဘုရား ကိုယ်တော် တိုင်လည်း မကြာမီအတောအတွင်း တပ်တော်ကြီးရှိရာသို့ ကြွချီလာတော်မူမည် ဖြစ်ကြောင်း ကြားသိရလေသည်။

ကူတူဇော့ဗ်ကား နန်းမှုရေးရာများ၌လည်းကောင်း၊ စစ်ရေးစစ်ရာ များ၌လည်းကောင်း အတွေ့အကြုံရှိပြီး ဖြစ် သည့် အဘိုးကြီးဖြစ်၏။ ဘုန်းတော် ကြီးသော ဘုရား၏ အလိုတော်နှင့် ဆန့်ကျင်လျက် စစ်သေနာပတိချုပ် ရာထူး သို့ ရောက်ရှိလာခဲ့သူ ဖြစ်၏။ အိမ်ရှေ့ ဥပရာဇာမင်းသား ကြီးကိုအရာမှ နှုတ်ပယ်ခဲ့သူ ဖြစ်၏။ ရွှေနန်းရှင်၏ အလို တော်နှင့် ဆန့်ကျင်လျက် မိမိ၏ သဘောဖြင့် မော်စကို မြို့ကို စွန့်ခွာခဲ့သူ ဖြစ်၏။ ယခုမူကား မိမိ၏ နေ့သည် ဆုံးခန်း တိုင် ရောက်ခဲ့ပြီး

ဖြစ်ကြောင်းကို စစ်သေနာပတိချုပ် ကူတူ ဇော့ဗ် သိခဲ့လေပြီ။ မိမိ၏ အခန်းကဏ္ဍသည် နိဂုံးသို့ ရောက်ခဲ့ပြီဖြစ်ကြောင်းကို စစ်သေနာပတိချုပ် ကူတူဇော့ဗ် သိခဲ့လေပြီ။ မိမိလက်တွင် ရောက်ရှိနေသည်ဟု ထင်ရသော အာဏာသည် မိမိအာဏာ မဟုတ်တော့ကြောင်းကိုလည်း စစ်သေနာပတိချုပ် ကူတူဇော့ဗ် သိခဲ့လေပြီ။ ဤ အချက် ကို ရွှေနန်းတော်ကြီး၏ သဘောထားကို ထောက်၍ သိနိုင် သည်။ ထိုမျှသာမက မိမိပါဝင် ဆောင်ရွက်ခဲ့သော စစ်ရေး စစ်ရာကိစ္စများကို ထောက်၍လည်း သိနိုင်ပေသည်။ မိမိ ပါဝင်ဆောင်ရွက်ခဲ့သော စစ်ရေးကိစ္စသည် အဆုံးသို့ ရောက်ခဲ့လေပြီ။ မိမိ၏တာဝန်သည် ပြီးဆုံးခဲ့လေပြီ။ တချိန် တည်းမှာပင် စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် အိုမင်း ချည့်နဲ့ပြီဖြစ်သော မိမိ၏ ခန္ဓာကိုယ်ကြီး မောပန်း နွမ်းနယ် လျက်ရှိခြင်းကိုလည်း သတိပြုမိခဲ့လေပြီ။ မိမိ၏ ခန္ဓာကိုယ်  ကြီးအား အနားပေးရန် လိုခြင်းကိုလည်း သတိပြုမိခဲ့လေပြီ။

နိုဝင်ဘာလ ၂၉-ရက်နေ့တွင် ကူတူဇော့ဗ်သည် ဗီလနာမြို့တွင်းသို့ ဝင်ခဲ့လေသည်။ (ကူတူဇော့ဗ်က ၎င်း ကို "ကျွန်ုပ်ချစ်သော ဗီလနာမြို့"ဟု ခေါ်လေ့ရှိသည်။) ကူတူဇော့ဗ်သည် ၎င်း၏ တစ်သက်၌ ဗီလနာမြို့ဝန်အဖြစ် နှစ်ကြိမ်အမှုတော်ထမ်းခဲ့ဖူးသည်။ စစ်ဘေး၊ စစ်ဒဏ်ကို မခံလိုက်ရသော စည်ပင်ဝပြောသည့် ဗီလနာမြို့တွင်းသို့ ဝင်သည့်အခါ၌ စစ်သေနာပတိချုပ် ကြုံတူဇော့ဗ်သည် ကာလ အတန်ကြာ ကင်းဝေးခဲ့ပြီဖြစ်သော လူ့ဘဝ၏ သာယာမှုများကို တွေ့ရ၏။ ထိုမျှမက မိတ်ဆွေဟောင်း ရောင်းရင်းဟောင်းများကိုလည်း တွေ့ရလေသည်။ ဗီလနာမြို့သို့ ရောက်သည်နှင့် စစ်သေနာပတိချုပ် ကူတူဇော်သည် ရာဇဝင်တွင် ဖြစ်ပေါ်ခဲ့၊ ဖြစ်ပေါ်ဆဲ၊ ဖြစ်ပေါ်လတ္တံ့သော အဖြစ်အပျက်များသည် မိမိနှင့် မည်သို့မျှ သက်ဆိုင်ခြင်း မရှိတော့သည့်ပမာ တိုင်းရေး ပြည်ရေးကိစ္စများ တပ်မတော် ကိစ္စများကို လုံးဝ မေ့ပျောက်ထားလိုက်လျက် ယခင် မိမိ နေမြဲအတိုင်း အေးချမ်းစွာ နေထိုင်ခြင်း ပြုလေသည်။"

ရန်သူများကို "ဖြတ်တောက်ရန်" သို့မဟုတ် "ပြို ကွဲစေရန်" စိတ်စောလျက် ရှိသူ ဗိုလ်ချုပ် ရီချာဂေါ့ဗ်ကား ခေါမတိုင်းနှင့် ပိုလန်ပြည်တို့အထိ စစ်ပွဲကို တိုးချဲ့လိုသော် လည်း အရိုးကြေကြေ အရေခန်းခန်း တာဝန်ထမ်းဆောင် ရမည့်အခါသို့ ရောက်လာသောအခါ၌ တာဝန်ကျရာဒေသ သို့ သွားလိုသောဆန္ဒ မရှိတော့ချေ။ ဗိုလ်ချုပ်ရှိချာနေ့ဗ် မှာဘုန်းတော်ကြီးသော ရွှေနန်းရှင်ဘုရားကို အလျှောက် ရဲသူ ဟု နာမည်ကြီးသူဖြစ်၏။ ၁၈၁၁-ခုနှစ်က တူရကီ သို့ သွားရောက်ပြီးနောက် စစ်ပြေငြိမ်းရေး စာချုပ်ချုပ် ဆို၍ အောင်မြင်ခဲ့သည့်အခါ၌ ဤသို့ အောင်မြင်ခြင်း မဟာစစ်သေနာပတိချုပ် ကူတူဇော့ဗ်၏လုံ့လနှင့် အမြော် အမြင်ကြီးမှုတို့ကြောင့် ဖြတ်ပါသည်ဟု ရွှေနန်းရှင်ဘုရားထံ လျှောက်တင်ခဲ့ဖူးသဖြင့် မိမိသည် ကူတူဇော့ဗ်ကို ကျေးဇူး ပြုဖူးသည်ဟု သူ့ကိုယ်သူ အထင်ရောက်နေသူလည်း ဖြစ်၏။ ယခု ထိုဗိုလ်ချုပ်မှီချာနေ့ဗ်သည် ကူတူဇော့ဗ် တည်းခိုမည့် ဗီလနာမြို့ရှိ ရဲတိုက်ကြီးမှ နေ၍ ကူတူဇော့ဗ် အား စောင့်ကြိုလျက် ရှိလေသည်။ ဗိုလ်ချုပ် ရှီချာဂေါ့ဗ် သည် ရေတပ်စစ်ဗိုလ်ချုပ်၏ ဝတ်စုံကို ဝတ်ဆင်ကာ ဓားမြှောင်တစ်ချောင်းကို ခါးတွင် ချပ်လျက် ဦးထုပ်ကို ( လက်တွင် ပိုက်ထားရင်းက မြို့စောင့်တပ် အစီရင်ခံစာ နှင့် မြို့တော်ခန်းမ သော့များကို စစ်သေနာပတိချုပ် ကူတူဇော့ဗ်လက်သို့ အပ်၏။ လူငယ်ဗိုလ်ချုပ်များသည် သူငယ်ပြန်စပြုနေပြီဖြစ်သော စစ်သေနာပတိချုပ် ကူတူ ဇော့ဗ်အား လွန်လွန်ကဲကဲ ရိုသေလေးစားဟန်ပြခြင်းဖြင့် မထုံတတေ့ ဆက်ဆံပြုမူလေ့ရှိကြရာ ထိုဆက်ဆံပုံမျိုး သည် ဗိုလ်ချုပ်ရီချာနေ့ဗ်၏ အပြုအမူ၌ အထင်ရှားဆုံး ပေါ်လွင်လျက် ရှိ၏။ ဗိုလ်ချုပ် ရှိချာနေ့ဗ်သည် စစ်သေ နာပတိချုပ်အား ရွှေနန်းတော်ကြီးက မကျေမနပ်ဖြစ်လျက် ရှိခြင်းကိုလည်း သိပြီး ဖြစ်လေသည်။

ငင်းတို့နှစ်ယောက်သား အာလာပသလ္လာပပြော ဆိုနေစဉ်၌ ဗိုရစ်ဆော့ဗ် ဒေသ၌ မိမိထံမှ ပြင်သစ်တို့ လုယူသွားသော ပန်းကန်ခွက်ယောက်

အသုံးအဆောင် ပစ္စည်းများ တင်ထားသည့် ဝန်တင်လှည်းများကို ပြန်လည် ရရှိပြီ ဖြစ်ကြောင်း၊ ထို့ကြောင့် မိမိပိုင်ပစ္စည်းများကို မိမိ ပြန်ယူရဦးမည် ဖြစ်ကြောင်းဖြင့် စစ်သေနာပတိချုပ် ကူတူဇော့ဗ်က အမှတ်မထင် ပြောလိုက်မိ၏။

' "ကျွန်တော့်မှာ ထည့်စားစရာ ပန်းကန်ခွက် ယောက်တောင် မရှိတော့ဘူး လို့ ဆိုလိုပါသလား ကိုယ် တော်ကြီး။ ဒါအတွက်တော့ မပူပါနဲ့ ကိုယ်တော်ကြီး။ ကျွန်တော် အစစအရာရာ ရှာဖွေပေးပါ့မယ်။ ညစာစားပွဲ ကြီးများ တည်ခင်းကျွေးမွေးချင်တယ်ဆိုရင်လဲ ဖြစ်အောင် စီစဉ်ပေးနိုင်ပါတယ်"

ဗိုလ်ချုပ် ရှီချာနော့ဗ်က ၎င်း၏ စေတနာကို စကားလုံးတိုင်းဖြင့် သက်သေပြ ရန် ကြိုးစားလျက်ရှိသည့် အလျောက် စစ်သေနာပတိချုပ် ကူတူဇော့ဗ်က ညစာ စားပွဲ တည်ခင်းလိုသည် ထင်သဖြင့် ပြောလိုက်၏။

စစ်သေနာပတိချုပ် ကူတူဇ်က ပခုံးကို တွန့် လိုက်၍ ခပ်ပြုံးပြုံးဖြင့်

"သွေးသောက်ကြီး၊ ကျုပ်ပြောတဲ့စကားက အဓိပ္ပာယ်အရှင်းကြီးဗျ"ဟု ပြော လိုက်သည်။

ထိုအချိန်၌ ဧကရာဇ်ဘုရင်ကြီး၏ ဆန္ဒမှာ ရုရှားတပ် များကို နပိုလီယန်တပ် များ၏ နောက်သို့ ထက်ကြပ်လိုက် စေလိုသည်။ သို့ရာတွင် စစ်သေနာပတိချုပ် ကူ တူဇော့ဗ် သည် ဧကရာဇ်ဘုရင်ကြီး၏ အလိုနှင့် ဆန့်ကျင်လျက် စစ်သည်တပ်သား အများစုကို ဗီလနာမြို့တွင် ရပ်နား  နေစေ၏။ ကူတူဇော့ဗ်သည် ဗီလနာတွင် နေထိုင်စဉ် အတောအတွင်း၌ များစွာ လျော့ရိလျော့ရဲ နေထိုင်ကာ ကျန်းမာရေးမှာ လည်း ချွတ်ယွင်းလာသည်ဟု ၎င်း၏ အပါးတွင်ရှိသည့် ဗိုလ်ချုပ်များက ဆိုကြ၏။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် တပ်မတော်ကိစ္စများကို စိတ်မပါ့တပါ ဆောင်ရွက်ခြင်း၊ လက်အောက်ဗိုလ်ချုပ် များသို့ လွှဲထားခြင်း၊ ဘုန်းတော်ကြီးသော

ရွှေနန်းရှင် ဘုရားကြွရောက်လာမည့်အချိန်ကို စောင့်ဆိုင်းရင်း သောက် စား ပျော်ပါးလျက် ရှိခြင်းဖြင့် အချိန်ကို ကုန်လွန်စေ၏။

ဘုန်းတော်ကြီးသော ရွှေနန်းရှင်ဘုရားသည် မြို့ စားကြီးတော်လစတွိုင်း၊ မင်းသားကြီး ဘိုလကွန်စကီ၊ စစ်ဝန်ကြီး အာရပ်ချဲ့တို့ ခြံရံလိုက်ပါလျက် ဒီဇင်ဘာလ ၇-ရက်နေ့က ပီတာစဘတ် ရွှေမြို့တော်မှ ထွက်တော်မူ ခဲ့ရာ ၁၁-ရက်နေ့၌ ဗီလနာမြို့သို့ ရောက်လေသည်။ ဘုန်းတော်ကြီးသော ကေရာဇ်သည် ဗီလနာသို့ ရောက် လျှင် ရောက်ချင်း ခရီးရှည်သွား စွက်ဖားကို စီးလျက်ပင် ရဲတိုက်သို့ တောက်လျှောက်ကြွလာခဲ့၏။ ထိုနေ့က ဆီးနှင်း ထူထပ်စွာ ကျရောက်လျက် ရှိသော်လည်း ရာပေါင်းများစွာ သော စစ်ဗိုလ်ချုပ်များ၊ စစ်ဦးစီးအဖွဲ့ဝင် တပ်ဗိုလ်များနှင့် တကွ ဆင်မြီနော့ တပ်ရင်းမှ ကိုယ်ရံတော် တပ်ဖွဲ့ များသည် စစ်ဝတ်စုံ အပြည့် ဝတ်ဆင်လျက် ရဲတိုက်ရှေ့မှ စောင့်ကြို လျက် ရှိကြ၏။

ရှေ့တော်ပြေးတစ်ဦးသည် ပါးစပ်တွင် အမြုပ် တစီစီထွက်လျက်ရှိသော မြင်းသုံးကောင်တပ် စွတ်ဖား ကို စီးလျက် “ကြွတော်မူလာပြီ၊ ကြွတော်မူလာပြီ”ဟု အော်ဟစ် ပြောဆို၍ ရှေ့က စီးသွား၏။ ဗိုလ်ချုပ် ကိုနို နစ်ဆင့်သည် စစ်သေနာပတိချုပ်ကို အကြောင်းကြားရန် စမုတ်ဆောင်ထဲသို့ ပြေးဝင်လာခဲ့သည်။ စစ်သေနာပတိ ချုပ် ကူတူဇော့ဗ်မှာ စမုတ်ဆောင်ထဲတွင် မရှိဘဲ ရဲတိုက် စောင့်၏ တဲကလေးထဲသို့ ရောက်နေလေသည်။

တစ်မိနစ်ခန့်ကြာသော် စစ်ဝတ်စုံ အပြည့်အစုံ . ဝတ်ဆင်၍ ခါးတွင် 'ပဝါ စည်းလျက် ရင်ဘတ်တွင် ဆု တံဆိပ်တော် ရင်သိုင်းဘယက်များ ချိတ်ဆွဲထား သော အဘိုးကြီး၏ ဝဝဖိုင့်ဖိုင့် ကိုယ်လုံးကြီးသည် စရည်းအိုး ကြီးတစ်လုံးကဲ့သို့ ဆင်ဝင်ဆောင်အောက်သို့ တလိမ့်လိမ့် ' ထွက်လာ၏။ ၎င်းသည် ဦးထုပ်ကို ဘေး ခပ်စောင်း   စောင်းဆောင်း၍ လက်အိတ်များကို လက်တွင်ကိုင်ကာ အုတ်

လှေကားတစ်လျှောက်မှ ဘေးတိုက် တဖြည်းဖြည်း ဆင်း၍ လာ၏။ လက်တစ်ဖက်တွင်လည်း ရွှေနန်းရှင် ဘုရားထံ ဆက်သရန်အတွက် အစီရင်ခံစာကို ကိုင်ထား လေသည်။

လှုပ်ရှားသံ၊ တီးတိုးစကားပြောသံများ ပေါ်ထွက် လာ၏။ မြင်းသုံးကောင်တပ် စွတ်ဖားတစ်စီးသည် ကိုယ်ရံ တော်တပ်ဖွဲ့များ၊ ဗိုလ်ချုပ်များရှေ့မှ ဖြတ်၍ ရဲတိုက်ဆီ သို့ တရကြမ်း မောင်းသွား၏။ထိုနောက် မျက်လုံးများ ( အားလုံးသည် နောက်ကလိုက်ပါလာသော စွတ်ဖားတစ်စီး ဆီသို့ ရောက်သွားကြလေသည်။ ထိုစွတ်ဖားပေါ်၌ကား ဘုန်းတော်ကြီးသောဘုရားနှင့် မင်းသားကြီး ဘိုလကွန် စကီတို့ကို မြင်ရလေသည်။

နှစ်ပေါင်းငါးဆယ်မျှ အကျင့်ဖြစ်လာခဲ့ပြီ ဖြစ်သည့် အလျောက် ထိုစစ်သေနာပတိချုပ် အဘိုးကြီးသည် ဤ ရှုခင်း၊ ဤလှုပ်ရှားမှုများကို မြင်လိုက်သည်နှင့် တစ်ပြိုင် နက် အိပ်ရာမှ နိုးလာသကဲ့သို့ သတိပြန်ရလာ၏။ စစ်သေနာပတိချုပ်သည် မိမိကိုယ်ကို မိမိ လျင်မြန်စွာ စမ်း . သပ်၍ သပ်ရပ်စေပြီးနောက် ဦးထုပ်ကို ပြင်ဆောင်း၏။ ကိုယ်ကို တောင့်တောင့်တင်းတင်းဖြစ်အောင် ဆန့်လိုက် ပြီး ရင်ကို ကော့လိုက်၏။ ထိုနောက်၌ကား ရွှေနန်းရှင် ဘုရား စွတ်ဖားပေါ်မှ ဆင်းတော်မူ၍ မျက်လုံးဖြင့် တစ် ချက်လှမ်းကြည့်လိုက်သည်နှင့် တစ်ပြိုင်နက် အစီရင်ခံစာကို လှမ်း၍ ဆက်သပြီး ဖြစ်သော ချိုသာနူးညံ့သောအသံဖြင့် ပြောဆိုလျက် ရှိလေသည်။

ဘုန်းတော်ကြီးသော ရွှေနန်းရှင်ဘုရားသည် စစ် သေနာပတိချုပ် ကူတူဇော့ဗ်ကို ခြေဆုံးခေါင်းဆုံး တစ် ချက်မျှ ကြည့်လိုက်ပြီး ခေတ္တမျှ မျက်မှောင်ကုတ်လိုက်သည်။ ထို့နောက် ဣန္ဒြေကို သိမ်းဆည်းလျက် အဘိုးအို ကြီးထံ သွားကာ လက်များကို ဆန့်၍ ပွေ့ဖက်ခြင်း ပြု ၏။ ရွှေနန်းရှင်ဘုရားက ဤသို့ ပွေ့ဖက်နှုတ်ဆက်

ခြင်း သည်လည်း စစ်သေနာပတိချုပ် ကူတူဇော့ဗ်အဖို့ ထုံးစံ အတိုင်း စိတ် ထိခိုက်စေသည်ဖြစ်ရာ ဤတွင် စစ်သေနာ ပတိချုပ်သည်လည်း ငိုကြွေးခြင်း ပြု ပြန်သည်။

ရွှေနန်းရှင်ဘုရားသည် တပ်ဗိုလ်များနှင့် ဆင်မြီ နော့ကိုယ်ရံတော်တပ်၏ အလေးပြုခြင်းကို ခံယူ၍ အဘိုးအို တွင် ကြီးကို တစ်ဖန် လက်ဆွဲနှုတ်ဆက်ပြီး နောက် ၎င်းနှင့်အတူ ရဲတိုက်ဆီသို့ ကြွမြန်းတော်မူသည်။ “

စစ်သူကြီးနှင့် နှစ်ဦးချင်း ရှိသည့်အခါကျမှ ရွှေနန်း ရှင်ဘုရားသည် နပိုလီ ယန်တပ်များကို လိုက်လံ တိုက်ခိုက် ရာတွင် ယခုကဲ့သို့ နှေးကွေး ဆုတ်ဆိုင်းခြင်း၊ ကရပ်စနို နှင့် ဘီရဲဇီနာဒေသတို့တွင် အမှားများပြုလုပ်ခြင်းကြောင့် ကျေနပ်ခြင်း မရှိကြောင်းကို မိန့်တော်မူ၏။ ထို့ပြင် တိုင်းတစ်ပါးထိ လိုက်၍ တိုက်ခိုက်ခြင်းပြု ရန် ရည်ရွယ် ကြောင်းကိုလည်း မိန့်တော်မူ၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် မည်သို့မျှ ထင်မြင်ချက်လည်း မပေး၊ စောဒကလည်း မတက်ချေ။ လွန်ခဲ့ သည့် ၇-နှစ်ခန့်က ဩစတားလစ် စစ်မြေပြင်တွင် ရွှေနန်းရှင်ဘုရား၏ အမိန့် ကို နာခံစဉ်ကကဲ့သို့ ယခုလည်း ၎င်း၏ မျက်နှာပေါ်တွင် ကြောက်ရွံ့ထိတ်လန့်၍ ထက်သန်မှုကင်းသော အသွင်ကို ဆောင်လျက်ရှိလေသည်။

ခဏကြာသော် စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် ခေါင်းငိုက်စိုက်ဖြင့် စာကြည့်ဆောင်မှ ပွဲတက်ဆောင် ဘက်သို့ လေးကန်စွာ ထွက်လာ၏။ စစ်သေနာပတိချုပ် သည် အသံတစ်သံကြောင့် တန့်ခနဲ ဖြစ်သွား၏။

“ကိုယ်တော်ကြီး ကိုယ်တော်ကြီး”

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ခေါင်းကို မော့၍ ဘုရင်မင်းမြတ်၏ တပ်ရေးချုပ်ဖြစ်သူ အသံရှင် မြို့စားကြီးတော်လစတွိုင်း၏ မျက်လုံးများကို အတန်ကြာ စိုက်ကြည့်နေ၏။ မြို့စားကြီး တော်လစတွိုင်းသည် ငွေ ကလပ်တစ်ခု

ကို ကိုင်ထား၏။ ငွေကလပ်ပေါ်တွင် ပစ္စည်း တစ်ခုကို တင်ထား၏။ စစ်သေနာပတိချုပ် ကူတူဇော့ဗ် သည် နားမလည်နိုင်သော အမူအရာဖြင့် ကြည့် နေသည်။

အတန်ကြာမှ ရုတ်တရက် အမှတ်ရလာဟန်ဖြင့် ၎င်း၏ ထူအမ်းအမ်း မျက်နှာပေါ်တွင် ပြုံးရောင်သန်းစ ပြုလာ၏။ ထို့နောက် ဦးညွတ်၍ ငွေကလပ်ပေါ် ရှိ အရာကို ရိုသေစွာ လှမ်းယူလိုက်သည်။ ထိုအရာကား ပထမတန်း စိန့်ဂျော့ဆု တံဆိပ်တော်ကြီးပေတည်း။

# အခန်း ၁၁

နောက်တစ်နေ့၌ စစ်သူကြီး ကူတူဇော့ဗ်သည် ညစာစားပွဲ နှင့် ကပွဲကြီးတစ် ခု ကျင်းပ၏။ ထိုညစာစားပွဲသို့ ဘုန်း တော်ကြီးသော ဘုရားကိုယ်တော်တိုင် ကြွ ရောက်ချီးမြှင့် တော်မူလေသည်။ စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် ပထမ တန်း စိန့်ဂျော့ဆုတံဆိပ်တော်ကြီးကို ချီးမြှင့်ခြင်း ခံရပြီဖြစ်ရာ ဘုန်းတော် ကြီးသော ဘုရားသည် ၎င်းအား အမြင့်ဆုံး ချီးကျူး ဂုဏ်ပြုလိုက်ခြင်း ဖြစ်ပေ သည်။ သို့ ရာတွင် ဘုန်းတော်ကြီးသောဘုရားသည် စစ်သေနာပတိ ချုပ် ကူတူ ဇော့ဗ်ကို အလိုတော်မကျဖြစ်လျက် ရှိကြောင်း ကိုကား အားလုံးကပင် ရိပ်မိကြ လေပြီ ပထမတန်း ဆု : တံဆိပ်တော်ကြီးကို ချီးမြှင့်ခြင်းခံရသူ စစ်သေနာပတိချုပ် အား ထုံးတမ်းစဉ်လာအတိုင်း ချီးကျူးကြသော်လည်း ၎င်းအား ဘာမျှ အသုံးမကျ သော အဘိုးအိုကြီးတစ်ဦး ဟု ထင်မှတ်နေကြလေပြီ။ ရွှေနန်းရှင်ဘုရား ကြွချီ တော်မူ လာသည့်အခါ၌ သိမ်းဆည်းရမိသော ရန်သူစစ်တံခွန်များ၊ စစ်တလေးများ ကို ရွှေနန်းရှင်ဘုရား၏ ခြေတော်ရင်းသို့ နှိမ့်ချရန် စစ်သေနာပတိချုပ်က အမိန့် ပေး၏။ ရွှေနန်းရှင် ဘုရားသည် ဤ အခြင်းအရာကို မြင်သည်တွင် မျက်နှာကို မဲ့

တော်မူ၍ တစ်စုံတစ်ရာကို ရေရွတ်တော်မူ၏။ "လူပြက် အဘိုးကြီး" ဟူသော စကားလုံးကိုမူ ခပ်လှမ်းလှမ်းမှ ( မသဲမကွဲကြားလိုက်ရသည်ဟု အဆိုရှိလေသည်။

စစ်သေနာပတိချုပ် ကူတူဇော့ဗ်သည် စစ်ကို ဆက်လက်တိုးချဲ့ရန် သဘော မတူချေ။ သဘောလည်း မတူနိုင်ချေ။ ဤသို့ စစ်သေနာပတိချုပ်က အနာဂတ် တိုက် ပွဲစဉ်ကို သဘောမကျနိုင်သည်နှင့်အမျှ ရွှေနန်းရှင်ဘုရား မှာလည်း စစ်သေနာပတိချုပ်အား အလိုတော်မကျဖြစ် သည်ထက် ဖြစ်လာခဲ့လေပြီ။

နောက်တစ်နေ့နံနက်တွင် ရွှေနန်းရှင်ဘုရားက မိမိအား လာရောက်ခစားကြ သော စစ်ဗိုလ်ချုပ်များအား "အချင်းတို့၊ အချင်းတို့ကား ရုရှားနိုင်ငံကြီး တစ်နိုင်ငံ လုံးကို ကယ်တင်ခဲ့ရုံမျှမက ဥရောပတိုက်ကြီးတစ်တိုက် လုံးကိုလည်း ကယ်တင်ခဲ့ လေပြီ"ဟု မိန့်၏။ ဤစကားကို ထောက်၍ ယခု `စစ်ပွဲသည် ပြီးဆုံးခြင်းသို့ မ ရောက် သေးဟု အားလုံးက နားလည်လိုက်ကြလေသည်။

သို့ရာတွင် စစ်သေနာပတိချုပ် ကူတူဇော့ဗ်ကား ထိုအချက်ကို နားမလည် ချေ။ နားမလည်ရုံမျှမက နောက် ထပ် စစ်ပွဲသစ်တစ်ခုသည် အခြေအနေကို တိုးတက်စေမည် မဟုတ်ကြောင်း၊ ရုရှားနိုင်ငံကြီး၏ ဂုဏ်သိက္ခာကိုလည်း ထပ်မံ တိုးတက်စေတော့မည် မဟုတ်ကြောင်း၊ အခြေအနေ ကို ဆိုးရွားစေ၍ ရုရှားနိုင်ငံ ကြီး၏ ပြောင်မြောက်သော ဂုဏ်သိက္ခာကိုသာ ကျဆုံးစေလိမ့်မည် ဖြစ်ကြောင်း ဖြင့် ၎င်း၏ ထင်မြင်ချက်ကို အတိအလင်း ထုတ်ဖော် လျှောက် တင်ခဲ့သည်။ ထိုမျှ မက နောက်ထပ် စစ်သည်တပ်သား စုဖို့မှာလည်း လွယ်ကူခြင်းမရှိကြောင်း၊ ပြည်သူလူထုမှာ လည်း အကျပ်အတည်းများ၊ အခက်အခဲများကို ခံခဲ့ရ၍ ထောင်းထောင်းကြေမျှ စစ်ပန်းလျက်ရှိကြောင်း၊ ဤအခြေ အနေတွင် စစ်ကို တိုး ချဲ့ပါက အရှုံးနှင့်သာ ရင်ဆိုင်ဖွယ် ရာသာ ရှိကြောင်းဖြင့် လျှောက်တင်ခြင်း ပြုလေ သည်။

စစ်သေနာပတိချုပ်၏ သဘောထားမှာ အထက်ပါ အတိုင်း ဖြစ်၏။ ထို့ကြောင့် အားလုံး၏ အမြင်၌ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်သည် အနာဂတ် စစ်ပွဲတွင် အတား အဆီး အနှောင့်အယှက်ကြီးသဖွယ် ဖြစ်လျက်ရှိလေသည်။ . သို့ ဖြစ်ရကား ထိုအဘိုးအိုကြီးနှင့် မလိုလားအပ် သော အတိုက်အခံဖြစ်မှုများကို ရှောင်ရှားရန်အတွက် သဘာဝကျသော နည်းလမ်းမှာ တစ်ခုသာ ရှိ၏။ ၎င်းမှာ အခြားမဟုတ်။ ဩစတားလစ်စစ်ပွဲမှာကဲ့သို့ပင် ၎င်းအား တာဝန်မှ ဖယ်ရှား၍ (ရုရှားတိုက်ပွဲစဉ် အစတွင်လည်း စစ်သေနာပတိချုပ် ဗိုလ်ချုပ်ဘာကလေကို ဤသို့ ဖယ်ရှား ခဲ့ရပါသည်။) စစ်သေနာပတိချုပ်အရာကို ရွှေနန်းရှင်ဘုရား ကိုယ်တော်တိုင် ခံယူရန် ဖြစ်လေသည်။ ဤသို့ဖြင့်သာ အဘိုးအို စစ်သေနာပတိ ချုပ်၏ ခြေထောက်အောက်မှ မြေကြီးကို ၎င်းစိတ်မကောင်း မဖြစ်စေဘဲ ပြိုကျပြီး သား ဖြစ်စေမည် မဟုတ်လော။

ဤသို့ဖြင့် ရွှေနန်းရှင်ဘုရားသည် စစ်ဦးစီးချုပ် အဖွဲ့ကို တဖြည်းဖြည်း ပြင်ဆင်ဖွဲ့စည်းစေပြီးနောက် စစ်သေနာပတိချုပ် အာဏာကို ယူလိုက်လေသည်။ တိုးလ်၊ ကိုနိုနစ်ဆင်၊ အာမိုလေဗ့်ဗ် စသော ဗိုလ်ချုပ်များမှာလည်း ရာထူးသစ်များ အသီးသီး ရရှိကြလေသည်။ စစ်သေနာ ပတိချုပ် ကူတူဇော့ဗ်ကိုမူကား ကျန်းမာရေး ချွတ်ယွင်းနေ ပြီဟု အားလုံးက ကျယ်လောင်စွာ ပြောဆိုလျက် ရှိကြ လေသည်။

ဤသို့ဖြင့် စစ်သေနာပတိချုပ် ကူတူဇော့ဗ်၏ ကျန်းမာရေး အခြေအနေ သည် အရာမှ ဖယ်ပေးရလောက် အောင် ချွတ်ယွင်းပေးရသည့်အဖြစ်သို့ ရောက်ခဲ့ ရပြန်လေ သည်။ တကယ်လည်း ကျန်းမာရေး အခြေအနေမှာ ဆိုး ရွားစပြုနေပေ ပြီ။

စစ်သေနာပတိချုပ်ကူတူဇော့ဗ်သည် တူရကီ စစ်မြေပြင်မှ ပြန်လာခဲ့ကာ ပီတာစဘတ် ရွှေနန်းတော် ရွှေတိုက်တော်၌ အမှုထမ်းခဲ့ရ၏။ ထို့နောက် အရေးပေါ် စစ်သည်စုများကို စည်းရုံး စုဆောင်းခဲ့ရ၏။ ထိုနောက် သူမရှိလျှင် မဖြစ်သည့် အလျောက် တပ်တော်ကြီး ဦးစီး ကွပ်ကဲ၍ တိုက်ခိုက်ခဲ့ရ၏။ ဤသို့ဖြင့် ကူတူဇော့ဗ်သည် သေနာပတိအရာသို့ တဖြည်းဖြည်းရောက်ခဲ့ခြင်း ဖြစ်လေ သည်။ လမ်းအိုလမ်းဟောင်းအတိုင်း ရောက်ခဲ့ခြင်း ဖြစ်လေ သည်။ မှန်မှန်ကန်ကန် ရောက်ခဲ့ခြင်း ဖြစ်လေသည်။ ယခုမူကား ၎င်း၏အခန်းကဏ္ဍသည် ပြီးဆုံးလေပြီ။ ကူတူဇော့ဗ်၏ နေရာကို ဇာတ်ဆောင်သစ်က ဝင်ရောက် ကပြလေပြီး ၁၈၁၂-ခုနှစ်စစ်ပွဲသည် ရုရှားလူမျိုးတိုင်း၏ အသည်းတွင် မေ့နိုင်ခြင်း မရှိလောက်သည့် အမျိုးသား ရေးလက္ခဏာကို ဆောင်၏။ ယခု ထိုစစ်ပွဲသည် ဥရောပ တိုက်နှင့်ဆိုင်သော ဝိသေသလက္ခဏာကိုလည်း ဆောင်ရ လိမ့်ဦးမည် မဟုတ်လော။

အနောက်မှ ပြည်သူများ အရှေ့ဘက်သို့ စစ်ချီလာ ခြင်း (နပိုလီယန်ချီတက်မှု) ပြီးသည့်နောက်၌ အရှေ့မှ ပြည်သူများက အနောက်ဘက်သို့ ချီတက် တိုက်ခိုက်သော စစ်ပွဲ (ရုရှားက နပိုလီယန်ကို လိုက်လံတိုက်ခိုက်သည့် စစ်ပွဲ) ကြီးသည် ပေါ်ပေါက်လာခဲ့၏။ ထိုစစ်ပွဲသစ်ကြီး အတွက် စစ်သေနာပတိချုပ် ကူတူဇော့ဗ်နှင့် အမြင်ချင်း၊ အရည်အသွေးခင်း၊ ရည်ရွယ်ချက်ချင်း ခြားနားသော ခေါင်းဆောင်တစ်ယောက်သည် လိုအပ်လာခဲ့လေပြီ။

ရုရှားနိုင်ငံကြီး ကယ်တင်ရေးနှင့် ရုရှားနိုင်ငံကြီး ၏ဂုဏ်သိက္ခာကို ကယ်တင်ရေး၌ ကူတူဇော့ဗ်ကို လိုအပ် သကဲ့သို့ အရှေ့မှ အနောက်သို့ ချီတက်တိုက်ခိုက်သော စစ်ပွဲကြီးနှင့် ရုရှားနိုင်ငံကြီး၏ နယ်နိမိတ်များကို ပြန်လည် သတ်မှတ်ရေးကိစ္စ၌ အလက်ဇန်းဒရားဇာဘုရင်သည်လည်း  လိုအပ်သော ပုဂ္ဂိုလ်တစ်ယောက် ဖြစ်လာခဲ့ရလေပြီ။ . ဥရောပတိုက်သည် မည်သည့် အဓိပ္ပာယ်ဆောင် ကြောင်းကို ကူတူဇော့ဗ် နားမလည်ခဲ့ချေ။ အာဏာစက် ချင်းညီအောင် ချိန်ခွင်လျှာတည့်ပေးရ

မည်ဆိုသည့် သဘော ကိုလည်း နားမလည်ခဲ့ချေ။ နပိုလီယန်၏ ရည်ရွယ်ချက် ကို လည်း နားမလည်ခဲ့ချေ။ နားလည်း မလည်နိုင်ချေ။ ရုရှားပြည်သူများ၏ ကိုယ်စားလှယ်ဖြစ်သော ကူတူဇော့ဗ် သည် ရန်သူကို မောင်းထုတ်ပြီးခဲ့လေပြီ။ ရုရှားနိုင်ငံကြီး ကို ကယ်တင်ပြီးခဲ့လေပြီ။ ရုရှားနိုင်ငံကြီး၏ဂုဏ်သိက္ခာကို မြှင့်တင်ပြီးခဲ့လေပြီ။ ထိုနောက်တွင် ၎င်းအဖို့ ရုရှားလူမျိုး အနေနှင့် ဘာမျှ လုပ်စရာ မကျန်တော့ပြီ။ အမျိုးသားစစ်ပွဲ ၏ ကိုယ်စားလှယ်တော်ကြီးအဖို့ သေတွင်းသို့ ဆင်းရန်မှတစ်ပါး အခြားလမ်း မရှိတော့ပြီ။ ဤသို့ဖြင့် ကူတူဇော့ဗ် သည် သေတွင်းသို့ ဆင်းခဲ့ရလေသတည်း။

# အခန်း ၁၂

ဖြစ်မြဲ ထုံးစံအတိုင်း အကျဉ်းသမားဘဝက ခံစားခဲ့ရသော ကိုယ်၏ ဒဏ်ရာဒဏ်ချက်တို့သည် ထောင်ထဲတွင် ဆင်း ဆင်းရဲရဲနေရစဉ်က ဘာမျှ မထောင်းတာလှသော်လည်း အကျဉ်းသမားအဖြစ်မှ လွတ်မြောက်လာသည့် အချိန်၌ ကား ထိုဆင်းရဲခြင်းဒုက္ခ၏ ဒဏ်ရာဒဏ်ချက်သည် အစွမ်း ကုန်တန်ခိုး ပြကြစမြဲ ဖြစ်လေသည်။ ပီယာဘ့အဖို့လည်း ထို့အတူသာ ဖြစ်ပေ၏။ သုံ့ပန်းဘဝမှ လွတ်မြောက်ပြီး သည့်နောက် ပီယာသည် အိုရဲဒေသသို့ ရောက်လာခဲ့၏။ အိုရဲတွင် သုံးရက်မျှ နေပြီးနောက် ကိယက်သို့ ခရီးဆက် ရန် ပြင်ဆင်လျက်ရှိစဉ် ပီယာမှာ ထိုဒဏ်ရာဒဏ်ချက် တို့ တန်ခိုးပြသည်နှင့် အကြီးအကျယ် နာမကျန်းဖြစ် ကာ သုံးလတာမျှ လဲနေလေသည်။ ပီယာ၏ ရောဂါမှာ သမားတော်များက “အူရောင်ငန်းဖျား”ဟု ခေါ်ကြသော ရောဂါဖြစ်၏။ သမားတော်များသည် ပီယာကို ကုသကြ ၏။ သွေးဖောက်ထုတ်ကြ၏။ သောက်ဆေးအမျိုးမျိုးကို ပေးကြ၏။ သို့သော်လည်း မောင်မင်းကြီးသား သမား တော်များ ဤသို့ ဝိုင်း၍ “နိုပ်စက်”ကြ

သည့် ကြားထဲက ပီယာသည် ကံအားလျော်စွာ ပြန်၍ ကျန်းမာလာခဲ့လေ သည်။
 ပီယာသည် သုံ့ပန်းဘဝက လွတ်မြောက်လာခဲ့ သည့် အချိန်မှစ၍ နာမကျန်းဖြစ် သည့်အချိန်ထိ တွေ့ကြုံ ခဲ့ရသော အဖြစ်အပျက်များကို ကောင်းစွာ မမှတ်မိတော့ ` ချေ။ ဆီးနှင်းကျချည်၊ မိုးချည်ဖြစ်နေသော အုံ့မှိုင်းသည့် ရာသီဥတု၊ ကိုယ်၏ ဆင်းရဲပင်ပန်းခြင်း၊ ခြေထောက်များ နှင့် ကျောများ နာကျင်ကိုက်ခဲလျက်ရှိခြင်း စသည်တို့ လောက်ကိုသာ မှတ်မိတော့သည်။ ဤစစ်ကြီးကြောင့် လူအများ ဆင်းရဲ ဒုက္ခရောက်ကြပုံ၊ ပူဆွေးသောက ရောက် ကြရပုံ၊ မိမိအား စစ်ဆေးကြသော ပြင် သစ် ဗိုလ်ချုပ်များ နှင့် တပ်ဗိုလ်များကြောင့် စိတ်ညစ်ရပုံ၊ မိမိအား တင်ခေါ် မည့် လှည်းကလေးတစ်စီးလောက်ကိုမျှ ရှာမတွေ့လောက် အောင် အသွားအလာ ခဲယဉ်းပုံ၊ ထိုအချိန်က မိမိတွင် တွေးတောခံစားနိုင်သော စွမ်းအားသတ္တိ ဟူ၍ မရှိ တော့ လောက်အောင် ဖြစ်နေပုံတို့ကိုလည်း မှတ်မိသလောက် ရှိ၏။ မိမိ လွတ်မြောက်လာသည့်နေ့၌ ပီယာသည် ပီတာ ရော့စတော့ဗ်၏အလောင်းကို လည်း တွေ့ခဲ့ရ၏။ မင်းသား ကလေးအင်ဒရေသည် ဘိုရိုဒီနိုတိုက်ပွဲပြီးသည့် နောက် တစ်လကြာမျှ ဝေဒနာခံစားရကာ ယာရိုစလာဗာရှိ မြို့စား ကြီး ရော့စ တော့ဗ်တို့အိမ်တွင် မကြာမီက ကွယ်လွန်အနိစ္စ ရောက်သွားရှာပြီ ဖြစ်ကြောင်းကို လည်း ပီယာသည် ထို နေ့မှာပင် သိခဲ့ရ၏။ ဤသတင်းများကို ဒင်နီဆော့ဗ်ထံမှ သိ ရခြင်း ဖြစ်၏။ ဒင်နီဆော့ဗ်သည် ပီယာသိပြီးသား အထင်ဖြင့် ပီယာ၏ ကြင်ရာ တော် ဟယ်လင်မင်းသမီးလေး ကွယ်လွန်အနိစ္စရောက်ကြောင်းကိုလည်း ပြော သွားခဲ့၏။ ထိုအချိန်က ထိုသတင်းများအားလုံး၊ အဖြစ်အပျက်များ အားလုံးသည် ပီ ယာ့အဖို့ အိပ်မက်သဖွယ်သာ ဖြစ်ခဲ့လေ သည်။ ၎င်းတို့၏ အဓိပ္ပာယ်ကို သေချာစွာ နားမလည်ခဲ့ချေ။ ယခုအချိန်ကျတော့မှ ပီယာသည် လူအချင်းချင်း ရက် စက်စွာ သတ်ဖြတ်လျက်ရှိသော အရပ်ကို အမြန်ဆုံး ဖဲကြဉ် ကာ ရိပ်ငြိမ် ချမ်းမြေ့သည့် အရပ်တွင် အေးဆေးစွာ ခိုလှုံ နေထိုင်လိုသော ဆန္ဒများ တဖွားဖွားပေါ်လာခဲ့သည်။

ထို နေရာ၌ အပန်းဖြေကာ မိမိကြားခဲ့ရသည့် အိပ်မက်သဖွယ် အဖြစ်အပျက်များကို စမြုံပြန်၍ စဉ်းစားလိုခဲ့သည်။ သို့ ရာတွင် အိုရဲသို့ ရောက်သည့်အခါ၌ ပီယာမှာ ဗုန်းဗုန်း လဲခဲ့လေပြီ။ နာလန်ထလာသည့် အချိန်၌ကား မိမိ၏ ကျွန်ယုံတော်ကြီး နှစ်ဦးဖြစ်သော တီရင်တီနှင့် `ဗာစကာ တို့နှစ်ဦးသည် အပါးတွင် ဝတ်ကြီးဝတ်ငယ် ပြုစုလျက် ရှိခြင်းကို ပီယာ တွေ့ရလေသည်။ ၎င်းတို့နှစ်ဦးမှာ မော် စကိုမှ ရောက်လာကြခြင်း ဖြစ်၏။ ၎င်းတို့သာမက ပီယာ ၏ အစ်မဝမ်းကွဲ ပထမမင်းသမီးကြီးကိုလည်း တွေ့ရလေ သည်။ ပထမ မင်းသမီးကြီးသည် လက်ရှိ ပီယာ၏ ပိုင်စားနယ်မြေကြီးတွင် နေထိုင်လျက်ရှိရာက ပီယာ လွတ် မြောက်လာပြီး နာမကျန်းဖြစ်လျက်ရှိသည်ဟု ကြားသိရ သဖြင့် လိုက်လာခဲ့ခြင်း ဖြစ်လေသည်။

နာလန်ထစပြုလာသည့် အချိန်ကျမှသာ ပီယာ၏ စိတ်ထဲတွင် ထင်ကျန်ရစ်ခဲ့သည် အကျဉ်းထောင်ထဲတွင် နေခဲ့စဉ်က အဖြစ်အပျက်များ၊ အတွေးများ၊ အလေ့အကျင့် များသည် တဖြည်းဖြည်း ပျောက်ကွယ်သွားကြ၏။ ထိုအခါ ကျမှ မိမိအား နက်ဖြန်တွင် မည်သည့်ဒေသသို့ သွားရ မည်ဟု အမိန့်ပေးမည့်သူ မရှိ တော့ပြီ။ မိမိအား ပူနွေးသော အိပ်ရာထဲမှ ဆွဲထုတ်မည့်သူ မရှိတော့ပြီ။ မိမိသည် ညစာကိုလည်းကောင်း၊ ညလယ်စာကို လည်းကောင်း၊ လက်ဖက်ရည်ကို လည်းကောင်း၊ မှန်မှန်သောက်ရစားရ တော့မည်ဟူသော အသိတရားသည် တဖြည်းဖြည်းဝင်လာ လေသည်။ သို့တိုင်အောင် မိမိသည် ယခုတိုင် အဖမ်းခံ နေရဆဲ ဖြစ် သည်ဟူ၍ကား အိပ်မက်ထဲတွင် မကြာခဏ မြင်မက်နေတတ်သေး၏။ ဤသို့ဖြင့် ပီတာကျဆုံးသည့် သတင်း၊ မင်းသားကလေး အင်ဒရေ ကွယ်လွန်သည့် သတင်း၊ ကြင်ယာတော် ဟယ်လင်မင်းသမီးလေး ကွယ် လွန်သည့်သတင်း၊ ပြင်သစ်တို့ စစ်ပျက်သည့် သတင်း စသည့် လွတ်လာခါစက ကြားခဲ့ရသော သတင်း

ပေါင်း စုံတို့၏ အဓိပ္ပာယ်ကိုလည်း တဖြည်းဖြည်းကျမှ နားလည် သဘောပေါက်စ ပြုလာခဲ့လေသည်။

လူသည် စိတ်၏ လွတ်လပ်ခြင်းကို မြတ်နိုးသည် မှာ ဓမ္မတာဖြစ်လေသည်။ စိတ်၏ လွတ်လပ်ခြင်းကို မည်သည့်အရာနှင့်မျှ လဲ၍မရချေ။ မည်သူ့ထံမှ ချေးငှား ဝယ်ယူ၍လည်း မရချေ။ ပီယာသည် မော်စကိုမှ ထွက် ခွာလာစဉ်က စိတ်၏ လွတ်လပ်ခြင်းအရသာကို တသိမ့် သိမ့်ခံစားခဲ့ရဖူး၏။ ယခုတစ်ဖန် နာလန်ထ စ၌လည်း လွတ်လပ်ခြင်း၏ အရသာကို တသိမ့်သိမ့် ခံစားရပြန် ချေပြီ။ ပြင်ပ ပယောဂတို့မှ ကင်းဝေးသော စိတ်လွတ်လပ် ခြင်းသည် ကိုယ်လွတ်လပ်ခြင်း၏ အဓိက ကျောရိုးကြီး  သဖွယ် ဖြစ်ကြောင်းကိုလည်း ပီယာ တအံ့တဩ တွေ့ရှိ လာခဲ့လေသည်။ ပီယာသည် အသိမိတ်ဆွေဟူ၍ တစ် ယောက်မျှ မရှိသော တစ်ရပ်တစ်ပါးသို့ ရောက်ရှိလျက် ရှိ၏။ မိမိထံမှ တောင်းဆိုမည့်သူ၊ မိမိအား တစ်နေရာသို့ သွားရန် အမိန့်ပေးမည့်သူ ဟူ၍လည်း တစ်စုံတစ်ယောက် မျှ မရှိတော့ချေ။ မိမိလိုသော အရာမှန်သမျှကိုလည်း ရရှိနေလေပြီ။ ကြင်ရာတော် ကွယ်လွန်အနိစ္စရောက်ခဲ့ ပြီ ဖြစ်သည့်အတွက် သူ့ကြောင့် ဖြစ်ရသော ဝိတက် ဝိစာရတို့လည်း မရှိတော့ပြီ။ မွှေးကြိုင်သော အမဲပြုတ်ရည်ခွက်နှင့်တကွ သန့်ရှင်းစင် ကြယ်သော စားမြိန်ခဲဖွယ်တို့ မိမိရှေ့သို့ ရောက်လာသော အခါ၌လည်းကောင်း၊ နူးညံ့သန့်ရှင်းသော အိပ်ရာထက် တွင် လဲလျောင်းသည့်အခါ၌ လည်းကောင်း၊ ပြင်သစ်တို့ စစ်ပျက်ပြီဟု သတိရသည့်အခါ၌ လည်းကောင်း၊ မိမိ၏ ကြင်ရာတော် မရှိတော့ပြီဟု သတိရလာသည့်အခါ၌ လည်းကောင်း ပီယာသည် “ကောင်းလေစွ၊ ချမ်းသာစွ” ဟု နှုတ်မှ မြည်တမ်းမိသည်။

တစ်ခါတစ်ရံ၌လည်း အကျင့်ပါနေပြီဖြစ်သည့် အတိုင်း “ကဲ နောက်ထပ် ဘာဖြစ်ဦးမလဲ၊ ငါဘာလုပ် `မလဲ”ဟု ကိုယ့်ကိုယ်ကို ပြန်၍ မေးခွန်းထုတ်ပြီး ချက်

ချင်းပင် "အို၊ ငါ အသက်ရှင်မယ်၊ လူ့လောကကြီးမှာ နေမယ်။ ဒီထက် ကောင်းတဲ့ အရာ ဘာရှိသေးသလဲ"ဟု အဖြေပေးမိသည်။

ပီယာသည် ယခင်က လူ့ဘဝ၏ ရည်ရွယ်ချက်၊ အသက်ရှင် နေထိုင်ရခြင်း၏ ရည်ရွယ်ချက်ကို အထပ် ထပ် အပြန်ပြန် စဉ်းစား ရှာဖွေခဲ့သည်။ သို့သော်လည်း အဖြေကို ရှာ၍ မရဘဲ စိတ်ဆင်းရဲခြင်းကိုသာ ခံစားခဲ့ ရ၏။ ယခုမူကား ပီယာသည် လူ့ဘဝ၏ ရည်ရွယ်ချက်၊ အသက်ရှင်နေထိုင်ရခြင်း၏ ရည်ရွယ်ချက်ကို မစဉ်းစား တော့ချေ။ ထိုပြဿနာသည် မရှိတော့ချေ။ အသက်ရှင် နေထိုင်ရခြင်း ရည်ရွယ်ချက်ကို ရှာဖွေရေးကိစ္စသည် ခေတ္တ အားဖြင့် ကွယ်ပျောက်သွားခဲ့ရုံမျှသာ မက မိမိအဖို့ ထို ပြဿနာသည် မရှိတော့ဟု လည်းကောင်း၊ ထိုပြဿနာ များကို တွေ့နိုင်တော့မည် မဟုတ်ဟု လည်းကောင်း ယူဆ လာခဲ့လေသည်။ ဤသို့ စိတ်တွင် ရည်ရွယ်ချက်တစ်ခု ကင်းမဲ့နေခြင်းသည်ပင်လျှင် ပီယာအား စိတ်လွတ်လပ်ခြင်း၏အရသာကို အပြည့်အဝခံစားရပေသည်။ ထို လွတ် လပ်ခြင်း၏ အရသာကြောင့်ပင် နာလန်ထစအတွင်း၌ ပီယာသည် ပျော်ရွှင်ခြင်းကို ရခဲ့ပေသည်။

ယခုအချိန်တွင် ပီယာ၌ ရည်ရွယ်ချက်ကို ရှာ၍ မတွေ့တော့ချေ။ အကြောင်းမူ ပီယာ၌ ယခုအချိန်တွင် ယုံကြည်ချက်ရှိလာခဲ့လေပြီ။ ထိုယုံကြည်ချက်ကား အုပ်ချုပ် ရေးစနစ်တစ်ခု သို့မဟုတ် တရားတော်များ၊ အတွေးအခေါ် များကို ယုံကြည်ခြင်း မဟုတ်ဘဲ ထာဝရတည်သော ထာဝရ ထင်ရှားသော ဘုရားသခင်၌ ယုံကြည်ခြင်း ဖြစ် လေသည်။ ယခင်ကမူ ပီယာသည် မိမိဘာသာမိမိ ရည် မှန်းထားသော ရည်ရွယ်ချက်များထဲ၌ ဘုရားသခင်ကို ရှာခဲ့သည်။ ၎င်းအဖို့ ရည်ရွယ်ချက်တစ်ခုကို ရှာခြင်းသည် ဘုရားသခင်ကို ရှာခြင်းဖြစ်၏။

သို့ရာတွင် ဘုရားသခင်သည် နေရာတိုင်းတွင် ရှိသည်။ အနီးကလေးတွင် ရှိသည်ဟု ၎င်းငယ်ငယ်က အထိန်းတော်ကြီး ပြောခဲ့ဖူးသော စကားများကို ပီယာ

သည် အဖမ်းခံခဲ့ရစဉ်အတွင်း ရုတ်တရက် သဘောပေါက်ခဲ့လေ ပြီ။ ထိုအနက် အဓိပ္ပာယ်ကို တရားတော်ဖြင့် လည်းကောင်း၊ ဆင်ခြင်တုံတရားဖြင့် လည်းကောင်း မဟုတ်ဘဲ ကိုယ်တိုင် ခံစားချက်ဖြင့်၊ ဘဝဖြင့် နားလည်သဘောပေါက်ခဲ့လေပြီ။

ညီအစ်ကိုတော် ဂိုဏ်းဝင်တို့က စကြဝဠာကြီး၏ ဗိသုကာဟုခေါ်သော ပုဂ္ဂိုလ်၏ ကိုယ်တွင်းတွင် ဘုရား သခင်တည်ရှိသည်ဟု ယုံကြည်ကြ၏။ သို့ရာတွင် ပီယာ အဖို့ကား ကာရာတာယက်၏ ကိုယ်တွင်းတွင် တွေ့ရသော ဘုရားသခင် သည် စကြဝဠာကြီး၏ ဗိသုကာ၏ ကိုယ်ထဲ၌ တွေ့ရသော ဘုရားသခင်ထက် အဆအသိန်း အသန်းမက မွန်မြတ်သည်ဟု ယူဆခဲ့လေပြီး အသိန်းအသန်းမက ကြီးမြတ်သည်ဟု ယူဆခဲ့လေပြီ။ မိမိအဖြစ်သည် ခြေ ထောက်အနီးတွင် ရှိသော အရာကို အဝေးကြီးသို့ လှမ်း မျှော်အားစိုက်၍ ရှာဖွေနေသူတစ်ဦး၏ အဖြစ်နှင့် တူ လေ စွဟု ပီယာ အောက်မေ့မိလေသည်။ ၎င်းဘဝတစ်လျှောက် လုံး၌ ပီယာသည် မိမိ ပတ်ဝန်းကျင်ရှိ လူများ၏ ခေါင်း ပေါ်မှကျော်၍ အဝေးသို့ လှမ်းမျှော်ကြည့်ခဲ့ သည်။ တကယ် ၌ကား ၎င်းရှာဖွေနေသော အရာသည် အနီးကလေးတွင် ပင် ရှိ ကြောင်းကို ပီယာ ယခု သိခဲ့လေပြီ။

ယခင်က ပီယာသည် အဆုံးအစမရှိသော ထို  တစ်စုံတစ်ခုကို ရှာဖွေခြင်းငှာ မစွမ်းဖြစ်ခဲ့၏။ ထိုအရာ သည် တစ်နေရာရာတွင် ရှိမည်ဟုသာ သိထားပြီး ထို အရာကိုသာ လိုက်လံရှာဖွေခဲ့၏။ မိမိလက်လှမ်းမီသမျှ ၌ တွေ့ရသော အရာများ မှာ ကျဉ်းမြောင်းသောအရာများ၊ သေးဖွဲသောအရာများ၊ သာမန်အရာများ၊ အဓိပ္ပာယ်ကင်းမဲ့ သော အရာများဖြစ်ကြောင်းကိုသာ တွေ့ခဲ့ရ၏။ ထို့ကြောင့် ပီ ယာသည် စိတ်တည်းဟူသော မှန်ပြောင်းဖြင့် အဝေးကို လှမ်းမျှော်ကြည့်ပြန်၏။ ထိုအခါ၌ အဝေးတွင်ရှိသော သေးဖွဲ့သည့် လောကီအရာကိစ္စများသည် ဝေးကွာ ခြင်း တည်းဟူသော နှင်းမြူကြီး ဖုံးထားခြင်းကြောင့် ကြီးကျယ် သည်ဟု ထင်ရ၏။

သဲကွဲစွာ မမြင်ရသောကြောင့် အဆုံး အစမရှိဟု ထင်ရ၏။ ဥရောပလူနေမှုစနစ်၊ နိုင်ငံရေးကိစ္စ၊ ညီအစ်ကိုတော်ဂိုဏ်းသားတို့၏ ဝါဒ၊ အဘိဓမ္မာ၊ ပရဟိတ လုပ်ငန်း စသည်တို့သည် ကြီးကျယ်သောကိစ္စကြီးများ ဟု ပီယာ ထင်ခဲ့၏။ သို့ တိုင်အောင် ထိုအရာများသည် လည်း အနီးကပ်ကြည့်ရှုသောအခါ၌ သေးဖွဲ့ခြင်း၊ ကျဉ်း မြောင်းခြင်း၊ အဓိပ္ပာယ်မရှိခြင်းတို့ကိုသာ တွေ့ရ၏။ ယခု မူကား ပီယာသည် တကယ်မွန်မြတ်သော၊ ထာဝရဖြစ် သော၊ အဆုံးအစမရှိသော အရာကို အနီးမှာ ပင် တွေ့ရ လေပြီ။ ထို့ကြောင့် ပီယာသည် လူတွေ ခေါင်းပေါ်မှ ကျော်ကြည့်နေ သော မှန်ပြောင်းကို လွှတ်ချကာ မိမိပတ်ဝန်း ကျင်၌ ထာဝရ ပြောင်းလဲလျက်ရှိ သော၊ ထာဝရ မွန်မြတ် သော၊ နက်ရှိုင်း၍ အဆုံးအစမရှိသော လူ့ဘဝကို ပကတိ မျက်လုံးဖြင့် ဝမ်းမြောက်စွာ ငုံ့ကြည့်မိ၏။ ဤသို့ နီးကပ် စွာ ကြည့်သည်နှင့်အမျှ ပီ ယာ၏ စိတ်သည် ပျော်ရွှင်ခြင်း၊ တည်ငြိမ်ခြင်းကို ရသည်ထက် ရလာခဲ့၏။ "မည် သည့် ရည်ရွယ်ချက်ဖြင့် အသက်ရှင်နေကြသနည်း" ဟူသော ပြဿနာသည် ယခင်က ပီယာ၏ စိတ်တည်းဟူသော ဘုံထွတ်ဘုံဆောင်တို့ကို ပျက်စီးစေခဲ့၏။ ယခုကား ထို ပြဿနာ မရှိတော့ပြီ။ ထိုအမေးပုစ္ဆာကို ဖြေနိုင်သော ရှင်းလင်း လွယ်ကူသည့် အဖြေသည်လည်း ရင်ထဲတွင် အဆင်သင့် ရှိလေပြီ။ ထိုအဖြေကား "ငါတို့သည် ဘုရား သခင်အတွက် အသက်ရှင်နေကြသည်။ သခင့်အလိုတော် မပါ ဘဲ ဆံခြည်တစ်မျှင်သော်မျှ ခေါင်းမှ မကျွတ်နိုင်"ဟူ သော အဖြေတည်း။

# အခန်း ၁၃

ပီယာ၏ အတွင်းသန္တာန်သည် ပြောင်းလဲခဲ့ပြီ ဖြစ်သော် လည်း ပြင်ပ သဏ္ဌာန်ကား ပြောင်းလဲသည်ဟု မဆိုနိုင် သေးချေ။ ပီယာ၏ အင်္ဂါလက္ခဏာမှာ ယခင်ကကဲ့သို့ ပင် ဖြစ်၏။ ယခင်ကကဲ့သို့ပင် ပီယာမှာ သတိချွတ်ယွင်း တတ်

လျက် ပတ်ဝန်းကျင်ကို သတိမပြုမိဘဲ သူ့အတွေး နှင့်သူ နစ်မြုပ်နေတတ်သည်။ သို့ရာတွင် ယခင် ပီယာ နှင့် ယခု ပီယာတို့၌ ကွာခြားချက်ကား ရှိ၏။ ယခင်က ဆိုလျှင် ပီယာသည် မိမိ၏ ပတ်ဝန်းကျင်ကို နားမလည် နိုင်လျှင် သို့မဟုတ် မိမိအား ပြောစကားကို နားမလည် နိုင်လျှင် နဖူးကို ရှုံ့၍ မျက်လုံးကို မှေးကာ အဝေးကြီးသို့ မျှော်ကြည့်တတ်၏။ ယခုမူ မိမိရှေ့မှ အရာကို မမြင်သည့်တိုင် မိမိအား ပြောစကားကို မေ့လျော့သည့် တိုင် အဝေးကြီးသို့ လှမ်းမျှော်ကြည့်ခြင်းမရှိတော့ဘဲ မသိမသာ အပြုံးဖြင့် မိမိရှေ့ကို တည့်တည့်ကြည့်တတ် လာပြီး မိမိအား ပြောစကားကို ဂရုတစိုက် နားထောင် တတ်လာသည်။ သို့ရာတွင် တစ်မျိုးမြင်၍ တစ်မျိုးကြား သည့် အကျင့်မျိုးကား မပျောက်တတ်သေးချေ။ ယခင်က ပီယာသည် သနားကြင်နာတတ်သော်လည်း အမြဲတမ်း စိတ်ညစ်လျက်ရှိသူတစ်ဦး ဖြစ်သည့်အလျောက် တော်တော် တန်တန်ဆိုလျှင် ပီယာကို ရှောင်ကွင်းသွားကြသည်သာ ဖြစ်၏။ ယခုကား လူ့ဘဝတွင် ပျော်ပျော်ကြီးနေမည် ဟူသော သဘောကို ဆောင်သည့် အပြုံးသည် ပီယာ၏ နှုတ်ခမ်းတွင် အစဉ် ဝဲလျက် ရှိ၏။ တစ်ဖက်သားကို သနားကြင်နာခြင်းသည် ၎င်း၏ မျက်လုံးများ၌ အစဉ် တောက်ပလျက် ရှိ၏။ အခြားသူများသည် မိမိကဲ့သို့ပင် လူ့ဘဝကြီး၌ ရောင့်ရဲကျေနပ်ကြ၏လော၊ ပျော်ရွှင်ကြ၏ လော ဟူသော စူးစမ်းသည့် အကြည့်မျိုးသည် အမြဲပေါ် လွင်လျက် ရှိ၏။ ထို့ကြောင့် ပီယာရောက်လာလျှင် အားလုံးပင် ပျော်ရွှင်ကျေနပ်လျက် ရှိကြလေသည်။

ယခင်ကမူ ပီယာသည် စကားများများပြော၏။ စကားပြောတိုင်းလည်း စိတ်လိုက်မာန်ပါ ပြောလေ့ရှိ၏။ တစ်ဖက်သား၏ စကားကို နားထောင်သည့်အခါဟူ၍ မရှိလှချေ။ ယခုမူ ပီယာသည် စကားများများ မပြောတော့ ချေ။ တစ်ဖက်သား၏ စကားကို နားထောင်ရကောင်းမှန်း   သိလာခဲ့လေပြီ။ ထိုအခါ

တွင် လူများကလည်း ၎င်းတို့၏ အတွင်းအကျဆုံး လျှို့ဝှက်ချက်များကို အလွယ်တကူ ပြောပြကြသည်သာ ဖြစ်လေသည်။

ပီယာ၏ အစ်မတော်ဝမ်းကွဲဖြစ်သူ ပထမမင်းသမီး ကြီးမှာ ပီယာကို များစွာ မနှစ်သက်လှချေ။ ပီယာ၏ ခမည်းတော်မြို့စားကြီး ဘီးဇူးကော့ဗ် ကွယ်လွန်ပြီးသည့် နောက်၌ကား မိမိသည် ပီယာ၏ ကျေးဇူးခံ ကျေးဇူးစား ဘဝသို့ ရောက်ခဲ့ရလေပြီဟု စိတ်တွင် စွဲကာ ပီယာကို ပို၍ မုန်းတီးစက်ဆုပ်လာခဲ့၏။ သို့ရာတွင် မည်မျှပင် မုန်းတီးစေ ကာမူ ပီယာအား ပြုစုစောင့်ရှောက်ရန် ဝတ္တရားရှိသည်ဟု ယူဆကာ အိုရဲသို့ ရောက်လာခဲ့သည်။ ထိုအခါ၌ကား ပထမမင်းသမီးကြီးမှာ ပီယာအား ယခင်ကလို မုန်းတီး ခြင်းမရှိတော့ဘဲ အချစ်ဝင်လာခဲ့လေပြီ။ ပထမ မင်းသမီး ကြီးသည် ဤအဖြစ်ကို ကြည့်၍ အံ့သြခြင်း ဖြစ်ရသေး၏။ ပီယာကလည်း ပထမမင်းသမီးကြီးအပေါ်တွင် ဆိုးသွမ်း ခြင်း မရှိတော့ဘဲ စိတ်ဝင်စားစွာဖြင့် အကဲခတ်လျက် ရှိ • ၏။ ယခင်ကမူ ပီယာသည် မိမိအား သူစိမ်းပြင်ပြင်သဖွယ် ဆက်ဆံကာ မထီမဲ့မြင်ပြုသည်ဟု ထင်သည့်အလျောက် ပထမ မင်းသမီးကြီးသည် ပီယာအား အမြဲတမ်း ရန်လို ခဲ့၏။ ပြုစုခဲ့၏။ သို့ရာတွင် ပီယာသည် မိမိ၏ အရည် အချင်းများ ထဲမှ အဆိုးကို ဥပေက္ခာပြု၍ အကောင်းကိုသာ ရှေ့ရှုရှာဖွေလျက် ရှိသည်။ မိမိနှလုံးသားအတွင်းမှ အမွန် မြတ်ဆုံးသော အရာများကို လိုက်လံရှာဖွေနေသည်ဟု သတိထားမိသည့်အခါ၌ကား ပထမမင်းသမီးကြီးသည် (အစတွင် သံသယ ရှိနေသေးသော်လည်း နောင်တွင် ကျေးဇူးတင်စွာဖြင့်) သိုဝှက်ဖုံးကွယ်ထားသော မိမိ၏ စိတ်နေ သဘောထားများကို ဖွင့်ထုတ်ပြလိုက်လေသည်။

ပထမမင်းသမီးကြီးကဲ့သို့ မိန်းမမျိုးသည် များစွာ နားလည်ရခက်သော မိန်းမမျိုး ဖြစ်၏။ သူတစ်ပါးကို မယုံသင်္ကာဖြစ်တတ်၏။ ပြုစုတတ်၏။ သို့ရာတွင် ယခု မူ ပီယာသည် ပထမမင်းသမီကြီး၏ ယုံကြည်မှုကို ရခဲ့ လေပြီ။ အချစ်ဝင်ခြင်းကို ခံခဲ့ရလေပြီ။ ဤနေရာ၌ကား ပေါင်းသင်းဆက်ဆံရေး၌ အကျွမ်းကျင်ဆုံးဆို

သော လူတစ် ယောက်သည်ပင် ပီယာလောက် စွမ်းဆောင်နိုင်မည်မထင် ချေ။ ဤ မျှခက်ထန်မာကျော၍ မာနကြီးသည့် ပထမ မင်းသမီးကြီး၏ ယုံကြည်မှုကို ရအောင် ပီယာ စွမ်းဆောင် ပြီး  နိုင်ခြင်းမှာ အခြားကြောင့်မဟုတ်။ ပထမ မင်းသမီးကြီး၏ ကြင်နာသနားတတ်သော အရည်အချင်းများ၊ ကောင်းမွန် သော အရည်အချင်းများကိုသာ ကြည့်တတ်ခြင်းကြောင့် ဖြစ်လေသည်။

"အင်း တကယ်ဆိုတော့ မောင်တော်လေးဟာ စိတ် ရင်းကောင်းရှာပေသား ပဲ။ သူ့ခမျာ အပေါင်းအသင်း မကောင်းလို့ ဒီလိုဖြစ်နေရရှာတာပဲ။ ငါ့လိုလူမျိုးတွေ နဲ့ သာနေရရင် သူ့ခမျာ ဒီလိုလူဆိုးတစ်ယောက် ဖြစ်ခဲ့မှာ မဟုတ်ဘူး"ဟု ပထမ မင်းသမီးကြီးကလည်း တွေးမိ၏။

ပီယာ၏ ပြောင်းလဲချက်များကို ပီယာ၏ ကျွန် ယုံတော်ကြီးများဖြစ်သော တီရန်တီနှင့် ဗာစကာတို့က လည်း ၎င်းတို့၏ ရှုထောင့်မှ ၎င်းတို့၏ အမြင်သစ်ဖြင့် သတိပြုမိကြ၏။ ၎င်းတို့စိတ်၌ သခင်လေးပီယာသည် ယခင်ကထက် ဟန်ဆောင် မှုကင်းသည်ဟု ထင်၏။ ရိုး သားသည်ဟု ထင်၏။ တီရန်တီသည် သခင်လေး ပီ ယာ အား ညအိပ်အဝတ်အစားလဲ ပေး၍ နှုတ်ဆက်ပြီးနောက် ဖိနပ်များ၊ အဝတ် များကို သိမ်းဆည်းခြင်း မပြုနိုင်သေးဘဲ ပီယာက စကားလမ်းကြောင်းပေးမည့် အချိန်ကို စောင့် နေတတ်သည်။ ပီယာကလည်း ၎င်း၏ ကျွန်ယုံတော်ကြီး တီရန် တီ စကားပြောလိုသေးသည်ကို သတိပြုမိသည့် အခါ၌ စကားလမ်းကြောင်း ပေး တတ်သည်။

"ဘယ့်နှယ်လဲပျို့၊ ရန်သူလက်အောက်မှာ နေခဲ့ ရတုန်းက အစားအသောက် များကော ဝဝလင်လင် စားခဲ့ ကြရရဲ့လား"ဟု ပီယာက မေးတတ်သည်။

ထိုအခါ၌ တီရန်တီက မော်စကိုမြို့ကြီး ပျက်စီးပုံ ကို လည်းကောင်း၊ မြို့စား ကြီး ဘီဇူးကော့ဗ်အကြောင်း ကို လည်းကောင်း ပြောပြတတ်၏။

တစ်ခါတစ်ရံ၌လည်း ပီယာ ချွတ်ပေးသည့် ဖိနပ်နှင့် အဝတ်အစားများကို လက်တွင် တန်းလန်းကိုင်ထားရင်း ပီယာတွေ့ကြုံခဲ့ရ သည့် အဖြစ်အပျက်များကို နားထောင်နေတတ်သည်။ ထို့နောက် မိမိ၏သခင်နှင့် ရင်းနှီးစွာ ဆက်ဆံရခြင်း ကြောင့် ဖြစ်သော ကြည်နူးသည့်စိတ်၊ သခင်ကို ပို၍ မြတ်နိုးသည့် စိတ်တို့ ရင်ဝယ် တဖွားဖွားဖြစ်ပေါ်လာရင်းက နူတ်ဆက် ၍ ထွက်ခွာသွားတတ်လေသည်။

ပီယာအား နေ့စဉ် လာကြည့်၍ ဆေးကုပေးသော သမားတော်ကြီးပင် (သတ္တဝါဝေနေယျတို့အား ကယ်တင်  ရေးအတွက် မိနစ်နှင့်အမျှ အရေးကြီးနေ သော လူတစ် ယောက်၏အသွင်ကို ဆောင်ခြင်းသည် ဆေးသမားတို့၏ ( မဟာ ဝတ္တရားကြီးဖြစ်သည်ဟု ယူဆသည့်အလျောက် ပြန် ' မည်တကဲကဲဖြင့် ဖင်တကြွ ကြွလုပ်တတ်သည့်တိုင်) ပီယာ နှင့်အတူ နာရီပေါင်းများစွာ ထိုင်၍ ရယ်စရာ အဖြစ် အပျက်များ၊ လူနာများ၊ အထူးသဖြင့် မိန်းမလူနာများ၏ စိတ်သဘောထား များကို ပြောပြတတ်လေသည်။ . “မြို့စားလေးလို လူနဲ့စကားပြောရတာ ပျော်စရာ အကောင်းသားဗျ။ ကျုပ်တို့တောက မြို့စားတွေနဲ့တော့ ကွာဘိခြင်းဗျာ”ဟု သမားတော်ကြီးက ပြောတတ်၏။

ပြင်သစ်စစ်တပ်ကြီးမှ ဖမ်းဆီးရမိခဲ့သော သုံ့ပန်း များလည်း အိုရဲတွင် ရောက်ရှိနေရာ သမားတော်ကြီးသည် အီတလီလူမျိုးတပ်ဗိုလ်တစ်ဦးကို တစ်နေ့ တွင် ပီယာထံ သို့ ခေါ်လာခဲ့လေသည်။

အီတလီတပ်ဗိုလ်မှာ ပီယာနှင့် တွေ့ရခြင်းကြောင့် များစွာ ပျော်ရွှင်လျက် ရှိ ပုံရ၏။ ထိုတပ်ဗိုလ်သည် ၎င်း ၏ အဖြစ်အပျက်များ၊ အချစ်ကိစ္စများနှင့်တကွ ပြင် သစ် များနှင့် နပိုလီယန်ကို မုန်းတီးစက်ဆုပ်ကြောင်းကိုပါ ဖွင့်ပြောတတ်၏။

“ရုရှားလူမျိုးတွေ အားလုံးသာ မြို့စားလေးလို ( ပုဂ္ဂိုလ်မျိုးချည်းဆိုရင်တော့ ဒီလိုလူမျိုးတစ်မျိုးကို စစ်ပြုရ ခြင်းဟာ တိတ္ထိတက္ကတွန်းတွေရဲ့ သာသနာဖျက်

လုပ်ငန်း ကို လုပ်ခြင်းနဲ့ ဘာမှ မခြားဘူးဗျ။ ကြည့်စမ်းပါဦးဗျာ၊ မြို့စားလေးဟာ ပြင်သစ်တွေကြောင့် ဒုက္ခသုက္ခတွေ ရောက်ခဲ့လျက်သားနဲ့ သင်းတို့အပေါ်မှာ အာဃာတစိတ် မျိုး မရှိအောင် ထားနိုင်တာကဖြင့် တကယ်အံ့စရာပါပဲ”

အီတလီတပ်ဗိုလ်က ပီယာကို ပြောပြ၏။

အီတလီတပ်ဗိုလ်က ပီယာအား ဤမျှ ချစ်ခင် လေးစားနေခြင်းမှာ အခြားကြောင့် မဟုတ်။ ပီယာသည် အီတလီတပ်ဗိုလ်၏ အကောင်းဆုံးသော သဘာဝများကို ဖော်ထုတ်ချီးကျူးနိုင်ခြင်းကြောင့် ဖြစ်လေသည်။

အိုရဲမှ ပီယာပြန်ခါနီး၌ ပိုလန်မြို့စား ဝီလာစ္စကီ လည်း ပီယာထံသို့ လာရောက်လည်ပတ်၏။ မြို့စား ဝီလာစ္စကီမှာ ၁၈၀၇-နှစ်က ပီယာအား ညီအစ်ကိုတော် ဂိုဏ်းသို့ သွတ်သွင်းပေးခဲ့သူ ဖြစ်သည်။ ဝီလာစ္စကီ၏ - ကြင်ရာတော်မှာ ရုရှားသူကြွယ်တစ်ဦး၏ သမီးဖြစ်၍ အိုရဲ  တွင် ပိုင်စားနယ်မြေကြီးတစ်ခု ရှိ၏။ ယခုမူ ဝီလာစ္စကီ သည် အိုရဲတွင် အခြေချကာ ထောက်ပံ့ရေးဌာနတွင် ယာယီအမှုထမ်းလျက် ရှိပေ၏။

ဝီလာစ္စကီသည် ပီယာနှင့် ယခင်က များစွာ ရင်းနှီးခြင်း မရှိချေ။ သို့ရာတွင် အိုရဲသို့ ပီယာရောက်နေ သည်ဟု ကြားသည်၌ လူသူမနီး သဲကန္တာရကြီးတစ်ခု ထဲတွင် လူတစ်ဦးနှင့်တစ်ဦး တွေ့ကြသည့်အခါ ဖြစ်ပေါ် လေ့ရှိသော ခင်မင်ရင်းနှီးခြင်းမျိုး၊ ဝမ်းသာခြင်းမျိုးဖြင့် ပီယာထံ လာရောက်တွေ့ဆုံခြင်း ပြုလေသည်။ ဝီလာစ္စကီ သည် အိုရဲတွင် နေထိုင်ရသည်မှာ ငြီးငွေ့လျက် ရှိပြီဖြစ်ရ “ကား ယခုကဲ့သို့ မိမိ၏ အသိုင်းအဝိုင်း (၎င်း၏အထင်) မိမိနှင့် ဝါသနာချင်းတူသော ပီယာနှင့် တွေ့ရသည့်အခါ တွင် များစွာ ဝမ်းသာလျက် ရှိလေသည်။

သို့ရာတွင် ပီယာမှာ ခေတ်နောက်ကျ၍ ကျန်ရစ် ခဲ့ကာ အရာရာကို ဥပေက္ခာပြုတတ်လွန်းသည်ဟု ဝီလာ ကီ၏ စိတ်၌ ထင်မိ၏။

"အိမ်း၊ ရောင်းရင်းကတော့ ဖြစ်ကတတ်ဆန်းကို နေတော့တာပဲနော"ဟု ဝီလာစ္စကီက ဆို၏။

မည်သို့ဆိုစေ ဝီလာစ္စကီမှာ ပီယာနှင့် တွေ့ဆုံရ ခြင်းကို ယခင်ကထက် ကျေနပ်လျက်ရှိကာ နေ့စဉ်နေ့တိုင်း လာရောက်လည်ပတ်လျက် ရှိလေသည်။ ပီယာအဖို့ကား ဝီလာစ္စကီ၏ စကားများကို နားထောင်ရင်း ဝီလာစ္စကီ မှာ ယခင်နှင့် မည်သို့မျှ ပြောင်းလဲခြင်းမရှိဟု ထင်မှတ် . လျက် ရှိလေသည်။ " ဝီလာကီသည် အိမ်ထောင်နှင့် လူတစ်ယောက် ဖြစ်သည့်အတွက် ၎င်း၏ အိမ်ထောင်တာဝန်များ၊ ကြင် ရာတော်၏ကိစ္စများ၊ အလုပ်ဝတ္တရားများနှင့် အမြဲတမ်းအလုပ်များနေတတ်သည်။ ဤတာဝန်များသည် ၎င်း၏ ဘဝတွင် အဟန့်အတား၊ အနှောင့်အယှက် ဖြစ်လျက်ရှိ သည်ဟု ဝီလာစ္စကီ ထင်၏။ ဤတာဝန်များသည် မိမိ တစ်ဦးတည်းနှင့်တကွ မိမိ၏ သားမယားကောင်းစားရေး အတွက်မျှသာ ဖြစ်ခြင်းကြောင့် စက်ဆုပ်ဖွယ်ကောင်း သည်ဟုလည်း ထင်၏။ ဝီလာစ္စကီသည် စစ်ရေးကိစ္စများ၊ အုပ်ချုပ်ရေးကိစ္စများ၊ နိုင်ငံရေးကိစ္စများနှင့် ညီအစ်ကို တော်ဂိုဏ်း၏ ကိစ္စများကိုသာ စိတ်ဝင်စားလျက် ရှိသည်။ ပီယာသည် အခြားသူများ၏ ထင်မြင်ချက်များကို ပြောင်း  လဲခြင်းပြုရန်လည်း မကြိုးစား၊ ထိုသို့ ထင်မြင်ချက်ရကောင်းလားဟု ရှုတ်ချပြစ်တင်ခြင်းလည်း မလုပ်ဘဲ ၎င်း ဝသီအတိုင်း ခပ်ပြုံးပြုံးဖြင့် ကြည့်ကာ မိမိအဖို့ ထူးဆန်း လျက်ရှိသည့် အခြင်းအရာများကိုသာ စိတ်ဝင်စားနေမိ သည်။ ယခုသော် ထိုအရာများသည် ပီဃာ့အဖို့ ထူးဆန်း လျက် ရှိလေပြီ။

ဝီလာစ္စကီ၊ ပထမမင်းသမီးကြီး၊ သမားတော်ကြီး စသည့် လူများအားလုံးနှင့် ဆက်ဆံရာတွင် ပီယာ၏ အသွင်အပြင်မှာ ပြောင်းလဲလာခဲ့သည်။ ထိုသို့ ပြောင်းလဲ လာခဲ့ခြင်းကြောင့်လည်း အများ၏ ချစ်ကြည်လေးစား ခြင်းကို ခံခဲ့ရ

သည်။ တိုက်တွန်းသြဝါဒပေးရုံမျှဖြင့် လူ တစ်ယောက်၏ ယုံကြည်ချက်ကို ပြောင်းလဲစေခြင်းငှာမတတ် နိုင်ဟု ပီယာသဘောပေါက်လာခဲ့သည်။ လူတိုင်းလူ တိုင်း သည် မိမိတို့၏ ရှုထောင့်အသီးသီးမှ ရပ်၍ တွေးကြ၊ မြင်ကြ၊ ခံစားကြပေ လိမ့်မည်ဟုလည်း သဘောပေါက် လာခဲ့၏။ ယခင်ကဆိုလျှင် ပီယာသည် မိမိနှင့် အယူအဆ အတွေးအခေါ် မတူသူများအား ဖြိုးသူရန်ဘက် ကြီးပမာ သဘောထား ခဲ့သည်။ ယခုမူကား ထိုသို့မဟုတ်တော့ပြီ။ ၎င်းတို့သည်လည်း ၎င်းတို့ ရှုထောင့်မှ မြင်ခွင့်၊ တွေးခွင့် နှင့် ခံစားခွင့်ရှိပေသည်ဟု သိမြင်လာခဲ့ကာ သနားခြင်း၊ စိတ်ဝင်စားခြင်း ဖြစ်လာခဲ့လေပြီ။ လူများ၏ ထင်မြင်ချက် ချင်း ခြားနားကြပုံ၊ ပဋိပက္ခဖြစ်ကြပုံ၊ ဘဝချင်း ကွာခြား ကြပုံ၊ ဆန့်ကျင်ကြပုံကို မြင်သည့်အခါ၌ ပီ ယာသည် ကျေနပ်နှစ်သိမ့်ကာ တစိမ့်စိမ့်ပြုံးလျက် ရှိနေတတ်ပေ သည်။

ပီယာသည် လက်တွေ့ဆောင်ရွက်ရမည့်ကိစ္စများ ကို ယခင်က စိတ်မ ဝင်စားခဲ့ချေ။ ယခုမူ ထိုအလုပ်များ ကို စိတ်ဝင်စားလာခဲ့လေပြီ။ ယခင်ကဆိုလျှင် ကျိုကျိုတက် ချမ်းသာ ကြွယ်ဝသူတစ်ဦးတို့ ကြုံတွေ့မြဲ ဓမ္မတာအတိုင်း ပီယာထံသို့ ငွေရေးကြေးရေးကိစ္စနှင့် ပတ်သက်၍ လာ ရောက် အကူအညီတောင်းသူများ ဒုနှင့်ဒေး ရှိခဲ့၏။ ထို အခါမျိုး၌ ပီယာသည် မိမိထံ လာရောက်အကူအညီ တောင်းသူ အား "ပေးရအံ့လော၊ မပေးဘဲ နေရအံ့လော"ဟု ဝေခွဲမရဖြစ်ခဲ့သည်။ "သူတို့ တောင်းသော အကူအညီသည် သူတို့၌ လို၏။ ငါ့၌လည်း ပေးနိုင်သော အရည်အချင်း ရှိ၏။ သို့ရာတွင် လောက၌ လူလိမ်များသာ ပေါများ၏။

ငါ မည်သူ့စကားကို ယုံရမည်နည်း" စသဖြင့် ဝေခွဲမရ ဖြစ်ရ၏။ သို့သော်လည်း နောက်ဆုံးတွင် မည်သူမည်ဝါဟု ခွဲခြားခြင်း မပြုနိုင်တော့ဘဲ လာ ရောက်တောင်းခံသူမှန် သမျှကို အိတ်သွန်ဖာမှောက်ပေးလိုက်သည်ချည်းသာ ဖြစ် ၏။ မိမိ၏ ပစ္စည်းဥစ္စာများနှင့် ပတ်သက်၍လည်း တစ် ယောက်တစ်မျိုး အကြံပေး

ကြသည်၌ မည်သည့်အကြံကို လိုက်နာရမှန်းမသိခဲ့အောင် ဖြစ်ကာ မည်သို့ စီမံခန့်ခွဲ ရမည်ကို ဝေခွဲမရအောင် ဖြစ်ခဲ့ရသည်။

ယခုသော်ကား ဤကိစ္စများနှင့် စပ်လျဉ်း၍ ဝေခွဲ မရဖြစ်ခြင်း၊ အကြံခက်ခြင်း စသည်တို့ မရှိတော့ချေ။ သင့်မသင့်၊ ရာမရာ၊ ကောင်းမကောင်းကို ပိုင်းခြားဆုံး ဖြတ်နိုင်သည့် အတတ်သည် ပီယာ၏ ကိုယ်တွင်း၌ ကိန်း ဝပ်လျက် ရှိလေပြီ ၊ ငွေရေးကြေးရေးကိစ္စများ၌မူ ပီယာသည် ယခင် ကကဲ့သို့ ဥပေက္ခာပြုထားမြဲပင်ဖြစ်၏။ သို့ရာတွင် မည် သည့်အရာကို လုပ်သင့်၍၊ မည်သည့်အရာကို မလုပ်သင့်ဟူ၍ကား ပီယာ ကောင်းစွာ သိခဲ့လေပြီ။ တစ်ခါက ဗိုလ် မှူးကြီး အဆင့်အတန်းရှိ ပြင်သစ် သုံ့ပန်းတစ်ယောက် သည် ပီယာထံသို့ ရောက်လာ၏။ ၎င်းက ၎င်း၏ စွန့်စား မှုများကို ရှည်လျားစွာ ပြောပြပြီးသည့် အဆုံး၌ ၎င်း၏ သားမယားများ အတွက် ဖရန့်ဒင်္ဂါးလေးထောင်ပေးရန် တောင်းလေသည်။ ပီယာသည် ခါတိုင်း ကဲ့သို့ နှုတ်လေး ခြင်းမရှိ၊ အားနာခြင်း မရှိတော့ဘဲ မပေးနိုင်ဟု ပြောင်ပြောင် တင်းတင်း ငြင်းလွှတ်လိုက်ဖူး၏။ ပီယာသည် ယခင်က ဤသို့ ငြင်းပယ်ရမည်ကို အားနာသလောက်၊ ယခု လွယ်ကူစွာ ငြင်းပယ်လိုက်နိုင်ခြင်းအတွက် မိမိကိုယ်ကို မိမိပင် အံ့သြရသေး၏။ ထိုကတည်းက ပီယာသည် တကယ်လိုသူကိုသာ အကူအညီပေး၍ တကယ် မလိုသူကို အကူအညီ ပေးခြင်း မပြုမိရန် သင်ခန်းစာ ရခဲ့လေသည်။ ဤသို့ ပြင်သစ်သုံ့ပန်းကို ငြင်းပယ်လိုက်သည်နှင့် တစ်ချိန် တည်း မှာပင် တကယ်အသုံးလိုနေသော အီတလီသုံ့ပန်းကို လိုသမျှ အကူအညီပေးရန်လည်း ဆုံးဖြတ်လိုက်လေသည်။ မော်စကိုမြို့ထဲနှင့် အနီးတစ်ဝိုက်ရှိ စံအိမ်များကို ပြန်လည် ပြင်ဆင်ရေး၊ ကွယ်လွန်သူ ကြင်ရာတော်၏ ကြွေးမြီများကို ဆပ်ရေးကိစ္စများ၌လည်း ပီယာသည် ပြတ်ပြတ်သားသား ပင် ဆုံးဖြတ်ခဲ့လေသည်။ ပီယာရှိနေသည့် အတောအတွင်း ပီယာ၏ စာရင်း ဒိုင်ချုပ်သည် အိုရဲသို့ ရောက်ရှိလာ၏။ ပီယာသည် မိမိ၏ လယ်ထောက်ခဝင်ငွေများ လျော့သည့်ကိစ္စနှင့်ပတ်သက် ၍

စာရင်းဒိုင်ချုပ်နှင့် တိုင်ပင်ခြင်း ပြု၏။ စာရင်းဒိုင်ချုပ် တွက်ချက်ပြသည့်အတိုင်းဆို လျှင် မော်စကိုမြို့ကို မီးလောင် စဉ်က ပီယာ ဆုံးရှုံးလိုက်သည့် ပစ္စည်းများ၏ တန်ဖိုးမှာ ငွေဒင်္ဂါးနှစ်သန်းခန့် ရှိပေသည်။

ကွယ်လွန်သူ ကြင်ရာတော်၏ ကြွေးမြီများကို ပေးဆပ်ခြင်း မပြုလျှင် ဝင်ငွေများများ လျော့မည် မဟုတ် သည့်ပြင် တိုး၍ပင် လာဦးမည်ဖြစ်ကြောင်း၊ ကြင်ရာတော် ၏ ကြွေးမြီများကို ပေးဆပ်ရန် ပီယာ၌ မည်သည့်တာဝန် မျှ မရှိကြောင်း၊ မော်စကိုမြို့ထဲနှင့် အနီးတစ်ဝိုက်ရှိ စံအိမ်များကို ပြန်လည်မွမ်းမံ ဆောက်လုပ်၍လည်း အကျိုး မထူးကြောင်း၊ ထိုစံအိမ်များအတွက် တစ်နှစ် တစ်နှစ်လျှင် ငွေဒင်္ဂါးရှစ်သောင်းမျှ ကုန်ကျနေကြောင်းဖြင့် စာရင်းပိုင် ချုပ်က အကြံပေး၏။

"၊ "အိမ်း၊ စာရင်းဒိုင်ချုပ်ပြောတာကတော့ အမှန် ပဲဗျ" ပီယာက ခပ်ပြုံးပြုံး ဖြင့် ဆို၏။

"ကဲ၊ ဒီလိုဆိုလဲ ဒီအတိုင်း လုပ်ဗျာ။ ကျုပ်မှာလဲ ဒီစံအိမ်တွေ လိုမှ မလိုဘဲ။ ကျုပ်တော့ ဒီလိုပျက်စီးတဲ့ကြား ထဲက ပိုပြီး ချမ်းသာလာပြန်ပေတာပေါ့" , သို့ရာတွင် ဇန်နဝါရီလထဲ၌ မိမိ၏ ကျွန်ယုံတော် ကြီးတစ်ဦးဖြစ်သူ ဆာဗေလစ် ရောက်လာပြန်ကာ ငွေ စာရင်းရှင်းတမ်းများကို တင်ပြ၏။ မော်စကိုမြို့ရှိ စံအိမ် နှင့် တောစံအိမ်ကို ပြင်ရန် ကုန်ကျမည့် ငွေစာရင်းကို ဗိသုကာတစ်ဦးက တွက်ပြ ထားသည့်အတိုင်း တင်ပြကာ ပြင်ဆင်ရန် အစစအရာရာ စီမံပြီး ဖြစ်ကြောင်းဖြင့် လည်း ပြောပြ၏။ ထိုအချိန်လောက်မှာပင် ယောက္ခမဖြစ်သူ မင်းသားကြီး ဗာစီလီ နှင့်တကွ ပီတာစဘတ် ရွှေမြို့တော် ရှိအခြားမိတ်ဆွေများထံမှလည်း ပီယာသည် ကြင်ရာတော် ၏ ကြွေးများကို ဆပ်သင့်ကြောင်းဖြင့် စာများ ရောက် လာ၏။ ဤ တွင် မိမိကျေကျေနပ်နပ် လက်ခံခဲ့သော စာရင်းဒိုင်ချုပ်၏ အကြံပေးချက်

များသည် မှားသည်ဟု ယူဆကာ ပီတာစဘတ် ရွှေမြို့တော်သို့ သွားရောက်၍ ကြင်ရာတော်၏ ကျွေးမြီများကို ပေးဆပ်ရန် ဆုံးဖြတ် လိုက်ပြန်သည်။ မော်စကို မြို့ရှိ စံအိမ်ကိုလည်း ပြင်ဆင်ရန် ဆုံးဖြတ်လိုက်သည်။ ပီယာသည် မည် သည့်အတွက်ကြောင့် ဆုံးဖြတ်ချက်ပြောင်းရကြောင်းကို စဉ်းစားမရသော်လည်း မ ပြောင်း၍ မဖြစ်ဟု ယူဆမိလေသည်။ ပီယာ၏ ဝင်ငွေ မှာ ကြင်ရာတော်၏ ကြွေး မြီများ ပေးဆပ်ရခြင်း၊ စံအိမ် ကို ပြင်ဆင်ရခြင်းတို့ကြောင့် လေးပုံသုံးပုံမျှ လျော့ သွား တော့မည် ဖြစ်သော်လည်း မတတ်နိုင်တော့ချေ။

ဝီလာစ္စကီမှာ မော်စကိုမြို့သို့ သွားရန် ကြံရွယ် လျက်ရှိရာ ပီယာသည် ဝီ လာစ္စကီနှင့်အတူ မော်စကိုသို့ သွားရန် ဆုံးဖြတ်လိုက်လေသည်။

အိုရဲ၌ နာလန်ထစဉ် နေထိုင်သည့် အတောအတွင်း ပီယာမှာ လွတ်လပ် ခြင်း၊ ပျော်ရွှင်ခြင်း၊ လူ့အဖြစ်သို့ ရောက်လာရခြင်းတို့၏ အရသာကို ခံစားရ၏။ ခရီးထွက် လာခဲ့၍ မျက်နှာစိမ်းများကို မြင်ရသည့်အခါ၌ကား ပီယာ ၏ ပျော်ရွှင် ခြင်းမှာ ဆိုဖွယ်မရှိတော့ချေ။ ခရီးတစ်လျှောက် လုံး၌ ပီယာသည် အားလပ်ရက်ရ သော ကျောင်းသားငယ် တစ်ယောက်သဖွယ် မြူးထူးလျက် ရှိ၏။ ရထားမောင်းသူ၊ စခန်းထောက်ကြီးကြပ်ရေးမှူးများ၊ လမ်းတစ်လျှောက်တွင် တွေ့မြင်ခဲ့ရသော လယ်သမားများ စသည့် မြင်မြင်သမျှ တို့သည် ပီယာ့အဖို့ အသစ်အဆန်းဖြစ်လျက် ရှိကြ၏။ ဝီလာစ္စကီမှာ ရုရှားနိုင်ငံကြီး အသိပညာခေါင်းပါးပုံ၊ ဆင်းရဲပုံ၊ ဥရောပ နှင့် နှိုင်းစာသော် ခေတ်နောက်ကျပုံတို့ကို တစ်လမ်းလုံးပြောဆိုလာခဲ့ရာ ပီယာ သည် ၎င်း၏စကား များကို နားထောင်ရင်း ကြည်နူးစွာ လိုက်ပါလာခဲ့သည်။ - ဝီ လာစ္စကီက မကောင်းသည့်အရာများကိုသာ မြင်နေသည့် အခါ၌ ပီယာမှာ ကောင်းသည့်အရာ၊ မျှော်လင့်ချက်ရှိ သည့်အရာတို့ကိုသာ မြင်နေသည်။ တဝန်းတ လျားကြီး ရှိသော နှင်းခဲပြင်ကြီးထဲ၌ ရိုးသားသော၊ ထူးခြားသော ရုရှားလူမျိုးများ

အား နေ၍ ဖြစ်အောင် ဖန်တီးပေးသော ရှရှားလူမျိုး၏ ခွန်အားသတ္တိကိုသာ မြင်နေသည်။ သို့ ရာတွင် ပီယာသည် ဝီလာစ္စကီအား မည်သို့မျှ ငြင်းခုံခြင်း မပြုချေ။ ငြင်းခုံ၍လည်း မည်သို့မျှ အကျိုးထူးမည် မဟုတ်သည့်အတွက် သဘောတူသည့် ပမာ ဆိတ်ဆိတ် နားထောင်ရင်း ပြုံးလျက် လိုက်ပါလာလေသတည်း။

# အခန်း ၁၄

အုံပျက်သည့်အခါ၌ ပိုးပုရွက်များသည် ထိုမှ ပြေးသွားကြ၏။ မည်သည့်အတွက်ကြောင့် ပြေးသွားကြ သနည်း။ မည်သည့်နေရာကို ပြေးသွားကြသနည်း။ ထို ပုစ္ဆာတို့ကို ဖြေဖို့ မလွယ်ချေ။ အချို့ပိုးပုရွက်တို့သည် အသေကောင်များ၊ ဥများ၊ အစာများကို ကိုက်ချီ၍ အုံမှ ထွက်လာကြ၏။ အချို့ကား အုံသို့ သွားကြ၏။ ၎င်းတို့ သည် မည်သည့်အတွက်ကြောင့် တစ်ကောင်တစ်ကောင် တိုးဝှေ့နေကြသနည်း။ မည်သည့်အတွက်ကြောင့် ကျော် တက်ကြသနည်း။ မည်သည့်အတွက်ကြောင့် ခေါင်းချင်း ဆိုင်နေကြသနည်း။ ဤပုစ္ဆာများကို ဖြေဆိုရန် မလွယ် သည့်နည်းတူ ပြင်သစ်တို့ ဆုတ်ခွာသွားသည့်နောက်၌ ရှရှားလူမျိုးများသည် တစ်ခါက မော်စကိုမြို့ကြီး တည်ရှိ ခဲ့ဖူးသောနေရာသို့ မည်သည့်အတွက်ကြောင့် စုပြုံလာ ရောက်နေကြခြင်း ဖြစ်သနည်းဟူသော အချက်ကိုလည်း ဖြေဆိုရန် မလွယ်လှချေ။ သို့ရာတွင် ကျွန်ုပ်တို့သည် အုံ ပျက်အနီး၌ လှုပ်ရှားနေသော ပိုးပုရွက်တို့ကို စောင့်ကြည့် သည့်အခါ၌ ၎င်းတို့တွင် ပုရွက်အုံကြီး ပျက်စီးသွားခဲ့သော် လည်း ဖျက်ဆီး မရနိုင်သည့်အရာတစ်ခုသည် ဆက်လက်တည်ရှိနေသေးကြောင်းကို တွေ့ရမည်ဖြစ်ပေသည်။ ယင်း သည်သာလျှင် ပိုးပုရွက်တို့၏ တကယ့်အင်အား ဖြစ်ပေ သည်။ ထောင်ပေါင်းများစွာသော ပိုးပုရွက်များ၏ လှုပ်ရှား မှု၊ ၎င်းတို့၏ စွမ်းရည်သတ္တိကလည်း ဤအချက်ကို ပြသလျက် ရှိလေ

သည်။ အလားတူပင် အောက်တိုဘာလ ထဲသို့ ရောက်သောအခါ မော်စကိုမြို့တွင် အစိုးရ ဟူ၍ မရှိတော့ချေ။ သာသနာရေးအဆောက်အအုံ၊ စေတီပုထိုး များ၊ အိုးအိမ်များ ဟူ၍လည်း မရှိတော့ချေ။ သို့သော် လည်း မော်စကိုမြို့သည် ရန်သူတို့ မသိမ်းပိုက်သေးမီ ဩဂုတ်လထဲတုန်းကကဲ့သို့ပင် လှုပ်ရှားစည်ကားလျက် ရှိလေသည်။ မော်စကိုတစ်မြို့လုံးမှာ ပျက်စီးခဲ့လေပြီ။ သို့တိုင်အောင် စမ်းသပ်ဆုပ်ကိုင်၍ မရသော်လည်း တန်ခိုး စွမ်းပကားနှင့် ပြည့်စုံလျက် ဖျက်ဆီး၍ မရနိုင်သော အရာ တစ်ခုကား ကျန်ရစ်ခဲ့ပေသေးသည်။

ရန်သူတို့ မော်စကိုမှ ဆုတ်ခွာသွားသည့် အချိန် ၌ မြို့တွင်းသို့ အစုလိုက် အပြုံလိုက် ဝင်ရောက်လာသူ ဖြစ်  တို့မှာ အမျိုးအမည်များပြားလှသလောက် ရည်ရွယ်ချက် များလည်း ကွဲပြားခြားနားကြ၏။ အများစု၏ ရည်ရွယ် ချက်ကား လုယက် ယူငင်ရန် ဖြစ်လေသည်။ သို့ရာတွင် ၎င်းတို့အားလုံး၌ တူညီသော ရည်ရွယ်ချက်တစ်ခုလည်း ရှိသေး၏။ ယင်းမှာ အခြားမဟုတ်။ မော်စကိုဟု ခေါ်သော နေရာသို့ အမြန်ဆုံး ရောက်ရှိကာ ထိုနေရာတွင် လှုပ် ရှားသွားလာရန်ပင် ဖြစ်ပေသည်။

ရက်သတ္တတစ်ပတ်အတွင်း မော်စကိုမြို့၏ လူဦး ရေမှာ တစ်သောင်းငါးထောင် ရှိလာ၍ ရက်သတ္တနှစ်ပတ် ကြာသောအခါ နှစ်သောင်းငါးထောင် ဖြစ်လာခဲ့လေပြီ။ ဤသို့ဖြင့် လူဦးရေသည် တစ်နေ့တခြား များပြားလာခဲ့၏။ ၁၈၁၃ ခု ဆောင်းဦးပေါက်၌ကား မော်စကိုမြို့၏ လူဦး ရေမှာ ၁၈၁၂ ခုနှစ်ကထက်ပင် များပြားလာခဲ့လေပြီ။ သို့တိုင်အောင် တိုးပွားမြဲ တိုးပွားလျက် ရှိသေး၏။

မော်စကိုမြို့ထဲသို့ ပထမဆုံးဝင်လာသော ရုရှား လူမျိုးများမှာ ဗိုလ်ချုပ်ဝန် ဇင်ဂျီရိုဒီ၏ တပ်ခွဲမှ ကော့ဆက် မြင်းတပ်သားများ၊ ဆင်ခြေဖုံးရွာများမှ လယ်သမားများ နှင့် မော်စကိုမှ ထွက်ပြေးကာ အနီးပတ်ဝန်းကျင်တွင် ခို လှုံနေ

သူများ ဖြစ်လေသည်။ မော်စကိုမြို့တွင်းသို့ ဝင်လာ သော ရုရှားလူမျိုးများသည် မော်စကိုမြို့ကြီးကို ပြင်သစ် တို့ လုယက်ဖျက်ဆီးသွားခဲ့သည့် အဖြစ်ကို မြင်သည်၌ ချမ်းသာမပေးကြဘဲ အကြွင်းအကျန်တို့ကို လုယက်ဖျက် ဆီးကြပြန်သည်။ ဤသို့ဖြင့် ပြင်သစ်တို့ အစပျိုးထားခဲ့ သော လုယက်ခြင်းအမှုကို ရုရှားတို့က အမွေဆက်ခံ၍ ဆက်လက်လုပ်ဆောင်ကြပြန်သည်။ လယ်သမားတို့၏ ရှည်လျားလှသော လှည်းတန်းကြီးများသည် မော်စကို မြို့တွင်းသို့ လိုမ့်ဆင်းလာကြကာ အိမ်ပျက်များထဲတွင် လည်းကောင်း၊ လမ်းမများပေါ်တွင် လည်းကောင်း စွန့် ပစ်ကျန်ရစ်ခဲ့သည့် ပစ္စည်းများကို သယ်ဆောင်လျက် ပြန်လည် ထွက်ခွာသွားကြလေသည်။ ကော့ဆက်မြင်းတပ် များကလည်း သယ်ဆောင်နိုင်သမျှကို သယ်ဆောင်၍ စခန်းသို့ ယူသွားကြလေသည်။ အိမ်ရှိသူများကလည်း အခြားအိမ်များမှ တွေ့သမျှပစ္စည်းများကို သိမ်းယူကာ မိမိတို့ပိုင်ပစ္စည်း ဖြစ်လေဟန်ဖြင့် မိမိတို့အိမ်သို့ ပြောင်း ရွှေ့ ယူငင်ခြင်းပြုကြလေသည်။

ဤသို့ဖြင့် ပထမအသုတ် လုယက်သူများ ရောက်  ရှိ၍ မကြာမီ ဒုတိယအသုတ် လုယက်သူများ ရောက်လာ ကြ၏။ ဒုတိယအသုတ် ရောက်ပြီးလျှင် တတိယအသုတ် ရောက်လာပြန်၏။ လုယက်သူ ဦးရေသည် များသည်ထက် များလာကာ လုယက်ခြင်း အလုပ်ပင်လျှင် လွယ်လွယ်နှင့် ပြုလုပ်၍ မရတော့ဘဲ ပုံစံအမျိုးမျိုးကို ဆောင်လာလေ တော့သည်။

ပြင်သစ်တို့သည် လူသူစွန့်ခွာလေပြီးသော မော်စကို မြို့ကြီးကိုသာ တွေ့ခဲ့ကြ၏။ သို့သော်လည်း ကူးသန်း ရောင်းဝယ်ရေးဌာနများ၊ အစိုးရ အဆောက်အအုံများ၊ သာသနာရေး အဆောက်အအုံများ၊ ဥစ္စာပစ္စည်းများ စသည်တို့ကို တွေ့ရသေး၏။ ၎င်းတို့သည် အသက် ကင်းမဲ့လျက် ရှိကြသော်လည်း တည်ရှိမြဲ တည်ရှိနေကြ သေး၏။ ဈေးများ၊ ဆိုင်ကန္နားကြီးများ၊ ကုန်ရုံများ၊ ဈေး ဆိုင်များ၊ စပါးစည်းများ(၎င်းတို့အားလုံးမှာ ပစ္စည်းအပြည့် ရှိသည်။)အပြင် စက်ရုံများ၊ အလုပ်ရုံ

များ၊ နန်းတော်များ၊ လူသုံးပစ္စည်း အသုံးအဆောင်တို့ဖြင့် ပြည့်လျက်ရှိသော သူကြွယ်အိမ်များ၊ ဆေးရုံများ၊အကျဉ်းထောင်များ၊ အစိုးရ အဆောက်အအုံများ၊ သုဓမ္မာဇရပ်များ၊ ဘုရားရှိခိုးကျောင်း များ စသည်တို့ကို တွေ့ရ၏။ ပြင်သစ်တို့ အနေကြာလာ သည်နှင့်အမျှ မြို့ကြီး၏ ပုံမှန်အခြေအနေသည် တဖြည်း ဖြည်း ပျက်စီးလာခဲ့ကာ နောက်ဆုံး၌ ဗရုတ်ဗရက် လုယက် သောင်းကျန်းမှု၏ ရှုခင်းကြီး တစ်ခုအဖြစ်သို့ ပြောင်းလဲ လာခဲ့၏။

ပြင်သစ်တို့က ဆက်လက်လုယက် သောင်းကျန်း ကြသည်နှင့်အမျှ မော်စကို မြို့၏ ဥစ္စာဓနနှင့် လုယက် သောင်းကျန်းသူ ပြင်သစ်တို့၏ အင်အားသည်လည်း ပို၍ပျက်စီးလာခဲ့လေသည်။ သို့ရာတွင် မော်စကိုမြို့ကြီး ထဲသို့ ပြန်လည်ဝင် ရောက်လာသော ရုရှားများ၏ လုယက် သောင်းကျန်းမှုကား အကျိုးသက်ရောက်မှု တစ်မျိုး ဖြစ်ပေ သည်။ ရုရှားတို့ လုယက်သောင်းကျန်းကြသည်နှင့်အမျှ လုယက် သောင်းကျန်းသူ ရုရှားဦးရေတိုးလာသည်နှင့်အမျှ မော်စကိုမြို့ကြီး၏ ဥစ္စာဓန သည်တိုးပွားသည်ထက် တိုး ပွားလာကာ မြို့ကြီး၏ ပုံမှန်အခြေအနေသည် လျင်မြန်စွာ ဖြစ်ထွန်းသည်ထက် ဖြစ်ထွန်းလာခဲ့လေသည်။

လုယက်သောင်းကျန်းသူများအပြင် အမျိုးမျိုးသော လူများသည် မော်စကို မြို့ထဲသို့ ဝင်ရောက်လာကြ၏။

အချို့ကား အထူးအဆန်းသဖွယ် ကြည့်လိုဇောဖြင့် ဝင်လာ ခဲ့ကြ၏။ အချို့ ကား အစိုးရဝတ္တရားဖြင့် ရောက်ရှိလာကြ ၏။ အချို့မှာ ကိုယ်ရေးကိုယ်တာကိစ္စ ဖြင့် လာခဲ့ကြ၏။ ၎င်းတို့အထဲ၌ အိမ်ပိုင်ရှင်များ၊ ဘုန်းတော်ကြီးများ၊ အစိုးရ အမှုထမ်း အရာထမ်းများ၊ ဈေးသည်များ၊ လက်လုပ်” လက်စားများ၊ လယ်သမား များ စသည်တို့ ဖြစ်ကြ၏။ ခန္ဓာကိုယ်တွင် လည်ပတ် သွားလာလျက်ရှိသော သွေး

တို့ သည် နှလုံးသို့ စီးဝင်သကဲ့သို့ ၎င်းတို့သည်လည်း မော်စ ကိုမြို့ထဲသို့ စီးဝင်လာကြလေသည်။

ရက်သတ္တပတ်အတွင်း၌ ပစ္စည်းများကို ဖောက် ထွင်းလုယက်ရန် လှည်းလွတ်များဖြင့် မော်စကိုမြို့ထဲသို့ ဝင်လာသော လယ်သမားများကို အာဏာပိုင်များက ရပ် တန့်စေ၏။ ထို့နောက် ထိုလှည်းများဖြင့် အလောင်းများကို မြို့ပြင်သို့ ဖယ်ထုတ်စေ၏။ ဤသို့ ပစ္စည်းတင်သွားသော လယ်သမားများကို အာဏာပိုင်များက အလောင်းကောက် ခိုင်းသည်ဟု ကြားသည့်အခါ၌ အခြားလယ်သမားများသည်၊ ဂျုံ၊ ပြောင်း၊ ကောက်ရိုး စသည်တို့ကို တင်ဆောင်၍ မော်စကိုမြို့တွင်းသို့ ရောက်လာခဲ့ကာ အပြိုင်အဆိုင်ဈေး လျှော့၍ ရောင်းကြ၏။ လက်သမားများသည် လုပ်ခ များများ ရလိမ့်မည်အထင်ဖြင့် မော်စကိုမြို့တွင်းသို့ နေ့စဉ်နှင့်အမျှ အစုလိုက် အစုလိုက် ရောက်ရှိလာကြ၏။ တစ်မြို့လုံး၌လည်း သစ်ခွဲသူ၊ အိမ်ဆောက်သူ၊ မီးလောင် ကျွမ်းသော အိမ်ဟောင်းကို ပြင်သူ စသည်ဖြင့် ပျားပန်းခပ်မျှ ဖြစ်လျက်ရှိကြ၏။ ဈေးသည်များသည် ဈေးဆိုင်များ၌ စတင်၍ အရောင်းအဝယ်ပြုလုပ်လျက် ရှိကြ၏။ တစ် ဝက်တစ်ပျက် လောင်ကျွမ်း ထားသည့်အိမ်များ၌ အစား အသောက်ဆိုင်များကို ပြန်လည်ဖွင့်လှစ်စ ပြုကြ၏။ မီး လောင်ကျွမ်းခြင်းမရှိသော သုဓမ္မာဇရပ်များ၌ ဘုန်းတော် ကြီးများသည် သုဓမ္မာ အစည်းအဝေးများ စတင်ကျင်းပ ကြ၏။ သုဓမ္မာဇရပ်များမှ ပျောက်ဆုံးသွားသော ပစ္စည်း များအတွက် ဒါယကာ ဒါယိကာမများက လှူဒါန်းကြ၏။ အစိုးရအမှုထမ်းများသည် ၎င်းတို့၏ ရုံးခန်းများ၌ စားပွဲ များ၊ ဗီရိုများကို ပြန်လည်ခင်းကျင်း နေရာချကြ၏။ အုပ်ချုပ်ရေးအာဏာပိုင်များနှင့် ရဲအဖွဲ့များသည် ပြင်သစ် တို့ ယူမသွားနိုင်၍ ချန်ထားခဲ့သောပစ္စည်းများကို မြို့သူ မြို့သားများသို့ ခွဲဝေပေးကြ၏။ အိမ်ရှင်များသည် အခြား  အိမ်များမှ ပစ္စည်းများကို ၎င်းတို့အိမ်ပေါ်သို့ ယူတင်ကြ ၏။ ကရင်မလင်နန်းတော်ထဲမှ ပစ္စည်းများကို ယူသွားကြ ခြင်းအတွက် အပြစ်တင်ကြ၏။ အချို့က

ပြင်သစ်တို့မှာ အိမ်အသီးသီးမှ ရှိသမျှပစ္စည်းများကို လိုက်လံသိမ်းဆည်း ကာ တစ်အိမ်တည်း၌ စု၍ထားခဲ့သဖြင့် ၎င်းပစ္စည်းများကို အရှိအတိုင်း ပြန်လာသော အိမ်ရှင်အား ပေးရမည်ဆိုလျှင် တရားမျှတမည် မဟုတ်ကြောင်း ပြောဆိုလျက် ရှိကြ၏။ အိမ်ရှင်များသည် ရဲအဖွဲ့ဝင်များကို ဆဲရေးကြ၏။ လာဘ် ထိုးကြ၏။ မီးလောင်ကျွမ်းသော အစိုးရပစ္စည်းများ၏ တန်ဖိုးကို ဆယ်ဆတိုး၍ ခန့်မှန်းကြ၏။ ၎င်းတို့အား ကယ်ဆယ်ထောက်ပံ့ခြင်း ပြုရန် အစိုးရထံ တောင်းဆိုကြ ၏။ မြို့သူမြို့သားများသည် ဤသို့ ပြုမြဲအမှုများကို ပြု လျက်ရှိသည့်နည်းတူ မော်စကို မြို့ဝန် ရော့စတော့ချင်သည် လည်း ၎င်း၏ပြုမြဲဖြစ်သော အမိန့်ပြန်တမ်းများကို တစ် စောင်ပြီးတစ်စောင် ရေးထုတ်ခြင်းအမှုကို ပြုလျက်ရှိလေ သတည်း။

# အခန်း ၁၅

ဇန်နဝါရီလကုန်၌ ပီယာသည် မော်စကိုမြို့သို့ ရောက်ရှိ လာခဲ့ပြီးနောက် မိမိ စံအိမ်တော်၌ မီးလောင်ကျွမ်းခြင်း မခံရသော အဆောင်တစ်ဆောင်တွင် နေထိုင်လျက်ရှိလေ သည်။ မြို့ဝန်ရော့စတော့ချင်နှင့်တကွ မော်စကိုမြို့သို့ ပြန်လည်ရောက်ရှိလာသော အသိအကျွမ်းများကိုလည်း လိုက်လံနှုတ်ဆက်လေသည်။ နောက်နှစ်ရက်ခန့်အကြာ၌ ပီတာစဘတ်ရွှေမြို့တော်သို့သွားရန်လည်း ကြံရွယ်လျက် ရှိလေသည်။ မော်စကိုမြို့သူမြို့သားအားလုံးသည် အောင်ပွဲ အထိမ်းအမှတ်များ ကျင်းပလျက်ရှိလေရာ အသက်ဝင်စ ပြုလာသော မြို့ပျက်ကြီးသည် လူးလွန့်လှုပ်ရှားလျက် ရှိလေသည်။ ပီယာကို တွေ့လျှင် အားလုံးက ဝမ်းသာ ကြ၏။ ပီယာကို လာတွေ့ကြ၏။ ပီယာ၏အဖြစ်အပျက် များကို မေးမြန်းစုံစမ်းကြ၏။ ပီယာသည် ၎င်းတို့အားလုံး ကို ဖော်ရွေစွာ ဆက်ဆံသော်လည်း စကားအလွန်အကျွံ မပြောမိအောင် များစွာသတိထားလျက်ရှိ၏။ မည်သည့် နေရာတွင် နေမည်နည်း၊ စံ

အိမ်တော်များကို ပြန်၍ဆောက် ဦးမည်လော၊ ပီတာစဘတ် ရွှေမြို့တော်ကို မည်သည့်ရက် နှစ် လောက်တွင် သွားမည်နည်း၊မည်သူ့အတွက် လက်ဆောင် ထုပ်ကလေးတစ်ထုပ် ယူသွားနိုင်သလော စသည့်သေးဖွဲ သော မေးခွန်းများကအစ ကြီးကျယ်သော မေးခွန်းများ အထိ ပီယာသည် မည်သည့် မေးခွန်းကိုမျှ အတိအကျ မဖြေဘဲ“ဟုတ်ကဲ့၊ ဖြစ်ပါလိမ့်မယ်” သို့မဟုတ် “ကျွန်တော် လည်း ဒီအတိုင်း ထင်ပါတယ်” စသည်ဖြင့် မယုတ်မလွန် . သာ ဖြေကြားခြင်းပြုလေသည်။

မြို့စားကြီး ရော့စတော့ဗ်တို့ မိသားစုမှာ ကိုစထ ' ရိုမာတွင် ရောက်ရှိနေသည်ဟု ပီယာ ကြားရ၏။ သို့ရာ တွင် ပီယာသည် နာတာရှော့အကြောင်းကို များစွာ မတွေး မိတော့ချေ။ အကယ်၍ တွေးမိပြန်လျှင်လည်း ထိုအတွေး သည် ရှည်ဝေးသော အတိတ်ကာလက ကြည်နူးဖွယ် အဖြစ်အပျက်တစ်ရပ်ကို ပြန်လည်တွေးခြင်းမျိုးသာ ဖြစ် လေသည်။ ပီယာသည် သူ့ကိုယ်သူ လူမှုကိစ္စများ၊ လူမှုဝတ္တရားများမှ ကင်းဝေးလျက်ရှိသည်ဟု ထင်ရုံမျှမက ကိုယ့်ဒုက္ခ ကိုယ်ရှာသည့် အဖြစ်မျိုးဟု သူထင်သော အချစ် ကိစ္စမျိုးမှလည်း ကင်းဝေးလျက်ရှိသည်ဟု ထင်လျက်ရှိ လေသည်။

မော်စကိုမြို့သို့ ရောက်ပြီးနောက် တတိယမြောက် နေ့၌ မင်းသမီးလေးမေရီလည်း မော်စကိုတွင် ရှိနေသည် ဟူသော သတင်းကို ပီယာသည် မင်းသမီးကြီး ဒရူဘက် စကားယားထံမှ ကြားသိရ၏။ မင်းသားကလေးအင်ဒရေ ကွယ်လွန်ခြင်းနှင့် တကွ မင်းသားက အင်ဒရေ၏ ကြေကွဲ ဖွယ်ကောင်းလှသော ဖြစ်ရပ်များသည် ပီယာ၏ခေါင်းထဲ၌ စွဲငြိလျက်ရှိခဲ့ရာ မင်းသမီးလေး မေရီ၏သတင်းကို ကြားရသည်နှင့် ပီယာအဖို့ ထိုအတွေး၊ ထိုအဖြစ်တို့သည် အသစ် ပြန်ဖြစ်လာကြ၏။ မင်းသမီးလေးမေရီမော်စကိုတွင် ရောက် ရှိနေကြောင်း၊ ဗော့ဇ်ဗီဇင်ကာလမ်းရှိ စံအိမ်မှာ မီးလောင် ကျွမ်းခြင်း မရှိကြောင်း၊ ယခု ထိုစံအိမ်၌ နေထိုင်လျက် . ရှိ

ကြောင်းကို ညစာစားပွဲတစ်ခုတွင် ကြားရသည်၌ ပီယာ သည် ထိုနေ့ညမှာပင် မင်းသမီးလေး မေရီထံသို့ ကရထား တစ်စီးဖြင့် ထွက်လာခဲ့၏။

လမ်းတစ်လျှောက်၌လည်း မင်းသားကလေး အင်ဒရေ၏ အကြောင်းနှင့် တကွ မိမိတို့နှစ်ဦး ရင်းနှီးကြပုံ၊ မိမိတို့နှစ်ဦးသား တွေ့လျှင် စကားလက်ဆုံကျ တတ်ပုံတို့ကို တွေးလာခဲ့၏။ ဘိုရိုဒီနိုတိုက်ပွဲ၌ နှစ်ယောက် တွေ့ကြစဉ် စကားပြောခဲ့ကြပုံကို အထူးအမှတ်ရမိလေသည်။

"ဘိုရိုဒီနိုတိုက်ပွဲမှာ တွေ့တုန်းကတော့ မင်းသား ကလေး အင်ဒရေရဲ့ စိတ်ဓာတ်ဟာ သိပ်ပြင်းထန်လွန်း တယ်။ သူ့အယူအဆတွေဟာလည်း ခါးသီး လွန်းတယ်။ သူ့ခမျာ သေသွားတော့လည်းပဲ ဒီခါးသီးပြင်းထန်တဲ့ စိတ်တွေ ရှိတုန်း ပဲလား။ မသေခင်မှာ လူ့ဘဝကြီးရဲ့ အဓိပ္ပာယ်ကိုမှ သိသွားပါလေရဲ့ လား" ပီယာ သည် ဤသို့ တွေး၏။ ထိုနောက် ကာရာတာယက် အကြောင်းကိုလည်း အမှတ်ရ လာ၏။ လာရာတာယက် သေဆုံးခဲ့ရပုံကိုလည်း မြင်ယောင်လာ၏။ ပီယာသည် မင်းသားကလေးအင်ဒရေ နှင့် ကာရာတာယက်တို့ နှစ်ဦးကို နှိုင်းယှဉ်ကြည့် မိသည်။ ၎င်းတို့နှစ်ယောက်ကား အစစအရာရာကွဲပြား ခြားနား ကြသော်လည်း ၎င်းတို့နှစ်ဦး အသက်ရှင်နေထိုင်ခဲ့ကြ ပုံချင်း၊ သေခဲ့ကြပုံချင်း၊ ပီယာ၏ ချစ်ကျွမ်းဝင်မှုကို ခံခဲ့ ကြရပုံချင်းမှာကား အတူတူပင်ဖြစ်ပေသည်။ ) ပီယာသည် ရွှင်လန်းခြင်းမရှိသော နှလုံးဖြင့် မင်းသားကြီး ဘိုလကွန်စကီ၏ စံအိမ်တော်သို့ ကရထား ကို မောင်းလာခဲ့သည်။ စံအိမ်ကြီးမှာမီးကွင်း၍ ကျန်ရစ်ခဲ့ ၏။ အပျက်အစီး အနည်းငယ်ရှိသော်လည်း အသွင်အပြင် မှာကား ပြောင်းလဲခြင်း မရှိ ချေ။ တံခါးဝမှ အစေတော် တစ်ယောက်က ပီယာကို ဆီးကြိုခြင်းပြုလေသည်။ မင်း သားကြီး ဘိုလကွန်စကီ မရှိသော်လည်း ဤစံအိမ်ကြီးတွင် ယခင် အစဉ်အလာများသည် ဆက်လက်တည်ဆဲပင် ဖြစ် သည်ဟု ထိုအစေတော်၏ သုန်မှုန်တင်းမာသော မျက်နှာ ထားက ပြောပြသကဲ့သို့ ရှိ၏။ ထိပ်ထားလေးမေရီ

သည် ၎င်း၏အဆောင်သို့ ဝင်ပြီဖြစ်ကြောင်း၊ ဧည့်သည်များကို တနင်္ဂနွေနေ့ များ၌သာ လက်ခံတွေ့ဆုံခြင်းပြုကြောင်းဖြင့် အစေတော်က ပြောပြ၏။

"ငါလာတယ်လို့ ပြောပါကွာ။ ထိပ်ထားလေး ဆင်းတွေ့ချင်တွေ့မှာပါ" ပီယာက ဆို၏။

"မှန်ပါ။ ပုံတူကားများ ထားရာ ခန်းဆောင်ထဲ ကြွပါ"

ခဏအကြာ၌ အစေတော်သည် စာပြဆရာ ဒီ ဆေးလ်နှင့်အတူ ထွက်လာလေသည်။ မင်းသမီးလေးမေရီ သည် ပီယာကို တွေ့လိုလှကြောင်း၊ အပေါ်ထပ်ရှိ မိမိ ၏ခန်းဆောင်သို့ ကြွစေလိုကြောင်း၊ ယခုကဲ့သို့ အပေါ်က သို့ ဖိတ်ခေါ်ခြင်းကို ခွင့်လွှတ်စေလိုကြောင်းဖြင့် မင်းသမီး လေး မေရီက မှာလိုက်သည်ဟု ဒီဆေးလ်က ပြောပြ၏။

ဖယောင်းတိုင်တစ်တိုင်သာ ထွန်းထားသည့် ခန်း ဆောင်ထဲ၌ မင်းသမီးလေးမေရီသည် ထိုင်စောင့်လျက် ရှိ၏။ ၎င်းနှင့်အတူ ဝတ်ရုံအနက်ကို ဝတ်ထားသူ တစ်ဦး လည်း ရှိလေသည်။ မင်းသမီးလေးမေရီသည် မိမိအပါး၌ မိန်းမဖော်တစ်ယောက် အမြဲတမ်းထားလေ့ရှိခြင်းကို ပီယာ သတိရ၏။ သို့ရာတွင် ထိုမိန်းမဖော်များမှာ မည်သူမည်ဝါ ဖြစ်၍ မည်သည့်အသွင်သဏ္ဌာန်ရှိကြောင်းကိုကား ပီယာသည် မည်သည့်အခါကမျှ သတိမထားခဲ့ဘူးချေ။ သိလည်း မသိခဲ့ချေ။ ပီယာသည် ဝတ်ရုံနက်ဝတ်ထားသည့် မိန်းမ ကိုကြည့်ကာ "ကေန္တ ထိပ်ထားလေးရဲ့ မိန်းမဖော်တစ်ဦး ဖြစ်မှာပဲ"ဟု သာမန်မျှသာ တွေးလိုက်မိသည်။

မင်းသမီးလေး မေရီသည် ထ၍ ဆီးကြိုကာ လက်ကမ်းလိုက်၏။ ပီယာက မင်းသမီးလေးမေရီ၏ လက်ခုံကို နမ်း၍ နှုတ်ဆက်သည်။ မင်းသမီးလေးမေရီသည် ပီယာ၏တစ်မျိုးတစ်ဖုံ ပြောင်းလဲနေသောမျက်နှာကို ကြည့်လျက်

”အင်း၊ မသေလို့ တွေ့ကြရပြန်ပြီနော်။ အင်ဒရေ ကတော့ သေတဲ့ အချိန် အထိ မြို့စားလေးအကြောင်းကို ပြောလိုက်ရတာ တဖွဖွပ်”

မင်းသမီးလေးမေရီသည် ပီယာကိုကြည့်ရာမှ မိန်းမဖော်ကို ရှက်စနိုးဖြင့် လှမ်းကြည့်လိုက်သည်။ ပီယာ ပင်လျှင် မင်းသမီးလေးမေရီ၏ ရှက်စနိုးဟန် ကြောင့် အံ့အားသင့်သွား၏။

“မြို့စားလေး ချောချောမောမော လွတ်လာတယ် လို့ ကြားရတော့ ထိပ်ထားဖြင့် ဝမ်းသာလိုက်ရတာ။ ထိပ်ထားလေးအဖို့တော့ ဒီသတင်းဟာ ပထမ ဆုံးကြား ရတဲ့ မင်္ဂလာသတင်းပါပဲ”

မင်းသမီးလေးမေရီသည် မသာယာသော အမူ အရာဖြင့် မိန်းမဖော်ကို ထပ်၍ကြည့်ပြန်သည်။ ထို့နောက် ပီယာကို တစ်စုံတစ်ရာ ပြောတော့မည်ဟု ပီ ယာဘက် လှည့်လိုက်၏။ ပီယာက ကြားဖြတ်၍

”ကျွန်တော်လည်း ဘာမှမသိရဘူး . ထိပ်ထား လေး” ပီယာက ဆို၏။ “တိုက်ပွဲမှာ ကျသွားပြီလို့ပဲ ကြားရတာပဲ။ ကြားရတဲ့သတင်းကလည်း တစ်ဆင့် စကားတစ်ဆင့်ကြားပဲ။ နောက်တော့ မြို့စားကြီး ရော့ စတော့ဗ် မိသားစုနဲ့ သွား တွေ့လို့ သူတို့ကပဲ ပြုစုထား သလိုလို ကြားရတာပဲ။ ကြံကြံဖန်ဖန် ဆုံစည်းမှ ဆုံစည်း တတ်ပလေနော်”

ပီယာက ခပ်သွက်သွက်ပြော၏။ ပီယာသည် မိန်းမဖော်၏ မျက်နှာကို လှမ်း ကြည့်မိပြန်၏။ မိန်းမဖော် သည် အာရုံစူးစိုက်လျက် မိမိအား သနားကြင်နာသော မျက်လုံးများဖြင့် ကြည့်လျက်ရှိခြင်းကို ပီယာ သတိပြုမိ၏။

ထိုသို့ သတိပြုမိရာက စကားပြောနေစဉ် ပတ်ဝန်းကျင်ကို လှည့်၍ အကဲခတ်ကြည့်တတ် သူတို့ခံစားရမြဲ ဓမ္မတာ အတိုင်း ဝတ်ရုံနက်ဝတ်ထားသည့်

မိန်းမဖော်သည် တစ် ဖက်သားကို သနားကြင်နာတတ်၍ စိတ်ကောင်းနှလုံး ကောင်းရှိသော သတ္တဝါတစ်ဦးဖြစ်ကြောင်း ပီယာ နားလည် လိုက်၏။ မိမိနှင့် မင်းသမီးလေး မေရီတို့ စကားပြော ဆိုရာတွင် အတားအဆီးဖြစ်မည့်သူ မဟုတ် ကြောင်း ပီယာ သိလိုက်၏။

သို့ရာတွင် ပီယာက မြို့စားကြီး ရော့စတော့ဗ် မိသားစု နာမည်ကို ထုတ် ပြောလိုက်သည်နှင့် မင်းသမီး လေးမေရီ၏ မျက်နှာထားမှာ သာ၍ ရုက်ကြောက် အားနာ သော အသွင်ကို ဖော်ပြလျက်ရှိခြင်းကို ပီယာ သတိပြုလိုက် မိသည်။ တစ် ဖန် မင်းသမီးလေးမေရီသည် ပီယာ၏မျက်နှာ နှင့် ဝတ်ရုံနက် ဝတ်ထားသည့် မိန်းမဖော်၏ မျက်နှာကို တစ်လှည့်စီကြည့်လျက်ရှိ၏။ ပြီးမှ

"မြို့စားလေး သူ့ကို တကယ် မမှတ်မိဘူးလား" ပီယာသည် ဝတ်ရုံနက်နှင့် မိန်းမဖော်၏ နက် မှောင်သာ မျက်လုံး၊ လှပသော နှုတ်ခမ်းနှင့်တကွ ဖျော့ ကော့ နူးညံ့သော မျက်နှာကို တစ်ခါထပ်၍ ကြည့်မိပြန် သည်။ ထိုအခါ၌ ပီယာနှင့် နီးစပ် ရင်းနှီးသော အရာတစ်ခု ပီယာမေ့လျော့နေသော အရာတစ်ခု၊ ချိုသာနှစ်လို ဖွယ် ကောင်းခြင်းထက် ပိုမိုသောအရာတစ်ခုသည် တောက်ပ သော မျက်လုံးရွဲကြီးများ ထဲမှ မိမိအား စိုက်ကြည့်လျက်ရှိ သည်ဟု ပီယာထင်မှတ်လိုက်မိသည်။ ,

"မဖြစ်နိုင်ဘူး။ ဒီမျက်နှာထားက နည်းနည်းမှုန် တယ်။ မျက်နှာက သွယ် လွန်းတယ်။ အသားကလည်း ခပ်ဖျော့ဖျော့ဖြစ်နေတယ်။ နည်းနည်းလည်း ရင့်ရော်နေ တယ်။ သူတော့ မဟုတ်နိုင်ဘူး။ နည်းနည်း ဆင်သလိုလို တော့ရှိရဲ့" ပီယာသည် ဤသို့ တွေးလျက်ရှိ၏။

"နာတာရှာလေ" မင်းသမီးလေးမေရီက ပြော လိုက်သည်။

ထိုအခါ ပီယာအား စိုက်ကြည့်လျက်ရှိသည့် မျက်လုံးများနှင့်တကွသော မျက်နှာပေါ်၌ အပြုံးတစ်ခုသည် ယှက်သန်းစပြုလာလေသည်။ ထိုအပြုံးသည်

ခက်ခဲစွာ ပြုံးရသော အပြုံး၊ ကြိုးစား၍ ပြုံးရသော အပြုံး၊ အား စိုက်၍ ပြုံးရသော အပြုံးမျိုးဖြစ်၍ ပတ္တာသံချေးတက် နေသော တံခါးနှစ်ရွက်၏ ပွင့်လာပုံမျိုးနှင့် တူလေသည်။ သို့ရာတွင် ဟလာသော ထိုတံခါးကြားမှ မွှေးထုံသင်းပျံ့ သော လေပြည်လေညင်းသည် ဝင်ရောက်လာခဲ့လေရာ ထိုလေပြည် လေညင်းသည် ပီယာ၏တစ်ကိုယ်လုံးကို လန်းဆန်းသွားစေလေသည်။ ပီယာသည် ထိုလေပြည် လေညင်းကို မေ့လျော့နေခဲ့သည်မှာ ကြာခဲ့ပြီဖြစ်၏။ ယခု ကဲ့သို့သော အချိန်မျိုးတွင် ထိုလေပြည်လေညင်းသည် တိုက်ခတ်လာလိမ့်မည်ဟု ပီယာ လုံးဝမထင်ခဲ့ချေ။ ထိုလေ ပြည်လေညင်းသည် ပီယာ၏တစ်ကိုယ်လုံးကို ငှေ့ယမ်းကာ အမွှေးရနံ့ဖြင့် ပက်ဖြန်းမွှမ်းထုံ၏။ ထိုသို့ ပြုံးသည့်အခါ ဌ်ကား ပီယာ၌ မည်သည့်သံသယမျှ မရှိတော့ချေ။ ရှိ လည်းမရှိနိုင်တော့ချေ။ ထိုဝတ်ရုံနက်နှင့် မိန်းမဖော်သည် နာတာရှာပင် ဖြစ်ပါ၏။ နာတာရှာကို ပီယာချစ်၏။

ထိုတဒင်္ဂ၌ ပီယာ၏ ရင်ထဲတွင်ရှိသော လျှို့ဝှက် ချက်တစ်ခုသည် မင်းသမီးလေး မေရီ၏ရှေ့တွင် လည်း ကောင်း၊ နာတာရှာ၏ရှေ့တွင် လည်းကောင်း၊ နောက်ဆုံး ၎င်းကိုယ်တိုင်၏ ရှေ့တွင်လည်းကောင်း အထင်းသား ပေါ်လာ၏။ ပီယာကိုယ်နှိုက်ပင် ထိုလျှို့ဝှက်ချက်သည် ၎င်း၏ရင်ထဲတွင် ကိန်းဝပ်နေခဲ့သည်ကို သတိမထားခဲ့ မိချေ။ ပီယာသည် ဝမ်းသာလွန်းသဖြင့် မျက်နှာတွင် နီရဲ လာ၏။ ရင်၌ နာကျင်ခြင်းကိုလည်း ခံစားရ၏။ ပီယာ သည် ဣန္ဒြေပျက်နေသော မိမိ၏အဖြစ်ကို ဖုံးကွယ်ရန် ကြိုးစား၏။ သို့ရာတွင် မည်မျှဖုံးကွယ်ရန် ကြိုးစားစေကာမူ မိမိသည် နာတာရှာကို ချစ်နေပြီဆိုသည့် အချက်ကား မိမိကိုယ်တိုင်၏ရှေ့တွင်လည်းကောင်း၊ နာတာရှာ၏ ရှေ့တွင် လည်းကောင်း၊ မင်းသမီးလေး မေရီ၏ ရှေ့တွင် လည်းကောင်း ဘွားဘွားကြီး ပေါ်လာခဲ့လေပြီ။ စကား လုံးဖြင့် ထုတ်ဖော်ပြောဆိုခြင်းသည်ပင်လျှင် ဤမျှ ထင် ရှား၍ ဤမျှပေါ်လွင်နိုင်လိမ့်မည် မထင်ချေ။ . "အို . မမျှော်လင့်ဘဲ တွေ့ရလို့ ထင်ပါရဲ့"ဟု ပီယာသည် ကိုယ့်ကိုယ်

ကို ပြန်၍ နှစ်သိမ့်သေး၏။ သို့ရာတွင် မင်းသမီးလေးမေရီနှင့် ပြောလက်စ စကား
ကို ဆက်လက်ပြောဆိုသည့်အခါ၌ကား ပီယာသည် နာတာရှာ ကိုသာ မကြာခဏ
ကြည့်နေမိသည်။ ပီယာ၏ မျက်နှာ သည်လည်း ရဲသည်ထက် ရဲလာ၏။
ကြောက်ရွံ့ခြင်းနှင့် ပျော်ရွှင်ခြင်းတို့ ရောထွေးလျက်ရှိသော စိတ်လှုပ်ရှားမှု သည်
လည်း ပြင်းထန်သည်ထက် ပြင်းထန်လာခဲ့သည်။ တစ်ခါတစ်ရံတွင် ပီယာသည်
စကားအဆက်အစပ်မရှိဘဲ ပြောဆိုလျက်ရှိကာ တစ်ခါတစ်ရံ၌လည်း ရှေ့ဆက်
ပြော `ရမည့် စကားကို မေ့လျက်ရှိလေသည်။ - နာတာရှာကို ပီယာ သတိမထားခဲ့
မိခြင်းမှာ နာတာ ရှာသည် ဤနေရာသို့ ရောက်ရှိနေလိမ့်မည်ဟု မမျှော်လင့် ခဲ့ခြင်း
ကြောင့်ဖြစ်၏။ နာတာရှာကို မမှတ်မိခဲ့ခြင်းမှာ ယခု နာတာရှာနှင့် ယခင် သူ
နောက်ဆုံးတွေ့ခဲ့သော နာတာရှာတို့ အပြောင်းလဲကြီး ပြောင်းလဲနေခြင်းကြောင့်
ဖြစ်၏။ နာတာရှာသည် ပိန်ချုံးကာ အသားအရေ ဖျော့ တော့လျက်ရှိ၏။
သို့ရာတွင် ထိုသို့ ပိန်ချုံးဖျော့တော့နေ ခြင်းကြောင့် မမှတ်မိခြင်းမဟုတ်ချေ။ ပီယာ
မမှတ်မိခြင်း ဖြစ်ရသည့်အကြောင်းမှာ လူ့ဘဝကို ကျေနပ်ပျော်ရွှင်သည့် အပြုံးဖြင့်
တောက်ပလျက်ရှိသည့် မျက်လုံးများနှင့်တကွ ဖြစ်သော နာတာရှာ၏ မျက်နှာ
ပေါ်၌ ပီယာဝင်လာသည့် အချိန်က အပြုံးဆို၍ အရိပ်အယောင်မျှ မတွေ့ရသော
ကြောင့်သာ ဖြစ်လေသည်။ ထိုစဉ်က နာတာရှာမျက်လုံး များသည် သနားကြင်နာ
တတ်သော အရိပ်အယောင်၊ ဝမ်းနည်းကြေကွဲစွာ စူးစမ်းလျက်ရှိသော
အရိပ်အယောင် တို့ဖြင့်သာ ဖုံးလွှမ်းနေခဲ့လေသည်။ ပီယာသည် စကား ပြောနေ
စဉ်၌ ဣန္ဒြေပျက်လျက်ရှိသော်လည်း နာတာရှာ ကမူ ဣန္ဒြေမပျက်ချေ။ မျက်နှာ
တစ်ခုလုံးကို ဝင်းထိန် တောက်ပလာစေသော ရွှင်လန်းခြင်းဖြင့်သာ ပီယာကို
တုံ့ပြန်လျက်ရှိလေသတည်း။

# အခန်း ၁၆

"ညီမလည်း ထိပ်ထားနဲ့ ခဏလာနေပါတယ် မြို့စားလေး" မင်းသမီးလေး မေရီက ဆို၏။ "ဦးရီးတော် မြို့စားကြီးနဲ့ မြို့စားကတော်ကြီးတို့လည်း မကြာခင်ပဲ မော်စကိုကို ရောက်လာကြတော့မှာပါ။ မြို့စားကတော်ကြီးခမျာလည်း တော်တော့်ကို ချုံ့ကျသွားရှာတယ်။ ဒီအထဲမှာ ညီမက လည်း ကောင်းကောင်းမကျန်းမာတော့ သမားတော် ကြီးများကို ပြရအောင်ဆိုပြီး လိုက်လာခဲ့တာပဲ။ ဦးရီးတော် မြို့စားကြီးနဲ့ မြို့စားကတော်ကြီးတို့ နှစ်ယောက်စလုံးက ညီမကို ထိပ်ထားနဲ့အတူ ထည့်လိုက်တယ်လေ"

"အင်း၊ ခုအချိန်မှာတော့ စိတ်မကောင်းစရာနဲ့ မကြုံရတဲ့ အိမ်ထောင်ရယ်လို့ မရှိပါဘူးလေ" ပီယာက နာတာရှာဘက်သို့ လှည့်၍ ပြော၏။ "ပီတာ ကျဆုံးတာ က အစ်ကိုတို့ကို ရုရှားပြောက်ကျားတပ်တွေ လာကယ်တဲ့ နေ့ပေါ့။ အစ်ကို ကိုယ်တိုင် မြင်လိုက်ရတယ်။ အင်မတန် ပျော်တတ်ရှာတဲ့ သူငယ်ကလေး"

နာတာရှာသည် ပီယာကိုကြည့်၏။ ပီယာ၏ စကားကို တုံ့ပြန်သောအားဖြင့် နာတာရှာ၏ မျက်လုံး များသည် တောက်ပပြုံးကျယ်လာကြ၏။

"အေးလေ၊ ဘယ်လိုပဲပြောပြော ဘယ်လိုပဲဖြေဖြေ ပြေနိုင်စရာတော့ မရှိဘူးပေါ့။ ဒီလောက်သဘောကောင်းပြီး ဒီလောက်ပျော်ပျော်နေတတ်တဲ့ သူငယ်ကလေးမှ ရွေးပြီး သေရတယ်လို့ပဲ"

"ဒီခေတ်ကြီးထဲမှာ ယုံကြည်ချက်မရှိဘဲ နေလို့ လည်း ခက်ပါတယ်လေ"

မင်းသမီးလေး မေရီက ဆို၏။ "ဟုတ်တယ်၊ ဟုတ်တယ်။ အမှန်ပဲ" ပီယာက ခပ်သွက်သွက် ဝင်ပြောလိုက်သည်။ "ဘာဖြစ်လို့ မှန်တာလဲ အစ်ကို"

နာတာရှာက ပီယာ၏မျက်လုံးများကို စူးစိုက်ကြည့် ၍ မေး၏။

"ဘာဖြစ်လို့ မှန်ရမလဲ ညီမရယ်" မင်းသမီးလေး မေရီက ပြော၏။ "လူ့ဘဝ ကြီးကို ကျော်ခိုင်းသွားပြီး တဲ့နောက်"

နာတာရှာသည် မင်းသမီးလေးမေရီ၏ စကား  အဆုံးကို မစောင့်တော့ဘဲ ပီယာဘက်သို့ လှမ်းကြည့်လိုက် ပြန်သည်။

"ဘာဖြစ်လို့လဲဆိုတော့ အစ်ကိုတို့ကို အုပ်စိုးနေ တဲ့ ဘုရားသခင်တစ်ပါး ရှိတယ်ဆိုတာကို လက်ခံယုံကြည် သူများမှသာလျှင် ထိပ်ထားတို့ညီမတို့ရဲ့ ဆုံးရှုံးမှုမျိုးကို တည်တည်ငြိမ်ငြိမ်နဲ့ ရင်ဆိုင်နိုင်လို့ပါ"

နာတာရှာသည် စကားပြောရန် ပါးစပ်ကို ပြင် လိုက်ပြီးမှ ရပ်လိုက်၏။ ပီယာသည် မင်းသမီးလေးမေရီ ဘက်သို့ လှည့်၍ မင်းသားကလေး အင်ဒရေ ကွယ်လွန်အနိစ္စရောက်ပုံကို မေးမြန်းလျက်ရှိသည်။

ပီယာသည် ဣန္ဒြေပျက်ခြင်း မရှိတော့ဘဲ တည်ငြိမ် စပြုလာပြီဖြစ်၏။ သို့ရာတွင် မိမိ၏ လွတ်လပ်ခြင်းသည် ( တစ်မုဟုတ်ချင်း ပျောက်ကွယ်သွားခဲ့လေပြီဟု စိတ်တွင် ထင်မှတ်မိသည်။ ယခုအချိန်၌ မိမိ၏ စကားတစ်ခွန်း၊ အလုပ်တစ်ခုသည် အရာရာကို ဆုံးဖြတ်သည်ဟု ထင်၏။ ထိုဆုံးဖြတ်ချက်သည် ကမ္ဘာလောကကြီး၌ အခြားသူ များအဖို့ အရေးမကြီးလှသော်လည်း မိမိအဖို့ သေရေး ရှင်ရေးတမျှ အရေးကြီးသည်ဟုလည်း ထင်၏။ ထို့ကြောင့် ပီယာသည် စကားပြောရင်း မိမိ၏စကားများကို နာတာရှာ က မည်သို့ ခံယူလေမည်နည်းဟု တွေးတောလျက်ရှိ လေသည်။ ပီယာသည် နာတာရှာအလိုကျ၊ နာတာရှာ ( သဘောကျစကားမျိုးကို ပြောဆိုခြင်း မရှိသော်လည်း မိမိပြောသမျှစကားကို နာတာရှာ၏ ရှုထောင့်မှ နေ၍ တွေးကြည့်နေမိသည်။

မင်းသမီးလေး မေရီသည် မိမိရောက်သွားသည့် အချိန်တွင် တွေ့ရသော မင်းသားကလေး အင်ဒရေ၏ ဝေဒနာအခြေအနေကို ပြောပြလျက်ရှိသည်။ (ဤကိစ္စမျိုးကို ပြန်ပြောရာ၌ ဝန်လေးတတ်ကြသည့် ဓမ္မတာအတိုင်း မင်းသမီးလေး မေရီသည် မပြောချင်ပြောချင် ပြောလျက် ရှိ၏။) သို့ရာတွင် စိတ်မကောင်းသဖြင့် ရှုံ့မဲ့လျက်ရှိသော ပီယာ၏မျက်နှာထား၊ ပီယာ၏ မေးခွန်းများ၊ စိတ်အား ထက်သန်စွာ စုံစမ်းမေးမြန်းလျက်ရှိသော အမူအရာတို့ ကြောင့် မင်းသမီးလေး မေရီမှာလည်း မိမိကိုယ်တိုင် ပြန်လှန်မတွေးလိုတော့သော ရှုခင်းမြင်ကွင်းကို အသေး စိတ် ပြောပြနေသည်။

အို၊ ဟုတ်လား။ ကျွတ်ကျွတ်။ ဖြစ်မှ ဖြစ်ရလေ”

ပီယာသည် ကိုယ်ကို ရှေ့သို့ ညွတ်ကိုင်း၍ နား ထောင်ရင်းက တဖွဖွ ပြောလျက်ရှိ၏။ “ဒါဖြင့် အဲဒီ အချိန်လောက်ကစပြီး သူ့ကိုယ်သူ အားလျှော့လိုက်ပြီ ဆိုပါတော့။ အင်း၊ ရောင်းရင်းဟာ ကမ္ဘာလောကကြီးမှာ လုံးဝ ကောင်းမွန် မြင့်မြတ်ခြင်းကို ရှာခဲ့တယ်။ ဒါကြောင့် သေခြင်းတရားကို မကြောက်တော့ဘူး။ တကယ်လို့ သူ့မှာ မကောင်းမှုရယ်လို့ ရှိလာရင်၊ ဒုစရိုက်ရယ်လို့ ရှိခဲ့ရင်လည်း ဒါဟာ သူ့ ပယောဂကြောင့် ဖြစ်ရတာ မဟုတ်ဘူး။ သူ စိတ်လျှော့လိုက်ပြီးတဲ့ နောက်တော့ အစ်မတော်ထိပ်ထားကို မြင်လိုက်ရတော့ သူ့ခမျာ ဘယ့် ကလောက်များ ဝမ်းသာ ရှာလိုက်မလဲနော်”

ပီယာသည် ဤသို့ပြောရာမှ မျက်ရည်လျှမ်းလျက် ရှိသော မျက်လုံးများဖြင့် နာတာရှာကို ကြည့်လိုက်၏။

နာတာရှာ၏ မျက်နှာသည် မဲ့လျက်ရှိ၏။ နာတာရှာသည် မျက်မှောင်ကုတ်ပြီးနောက် မျက်လွှာကို အောက်သို့ ချထားလိုက်သည်။ ၎င်း၏စိတ်တွင်

စကားပြော ရမည်လော၊ မပြောဘဲ နေရမည်လောဟု ဝေခွဲမရအောင် ဖြစ်လျက် ရှိလေသည်။

“ဟုတ်ပါတယ်အစ်ကို၊ သေခြင်းတရားကို တည် တည်ငြိမ်ငြိမ် ရင်ဆိုင်နိုင်ခြင်းဟာ ပျော်ရွှင်ခြင်းပါပဲ” နာတာရှာက ရင်တွင်းမှ လှိုက်၍ ထွက်လာသော အသံဖြင့် တည်ငြိမ်စွာဆို၏။ “နာတာရှော့အဖို့တော့ သူဒီလို တည် တည်ငြိမ်ငြိမ် ရင်ဆိုင်သွားတာကို မြင်ရတာ သိပ်ပြီး စိတ်ချမ်းသာတာပဲ” နာတာရှာကခေတ္တ ရပ်လိုက်၏။ “ပြီးတော့ နာတာရှာ ခန်းဆောင်ထဲ ဝင်သွားတော့ သူ က၊ သူက ဒီလို အချိန်မျိုးကို စောင့်နေတာ ကြာပါပြီတဲ့”

နာတာရှာ၏ အသံသည် တိမ်သွား၏။ နာတာရှာ ၏ မျက်နှာသည် နီရဲလာ၏။ နာတာရှာသည် ဒူးပေါ်တွင် တင်၍ ပတ္တာဆက်သကဲ့သို့ ဆက်ထားသော လက်နှစ်ဖက် ကို ညှစ်၍ အနိုင်နိုင်ချုပ်တည်းထားရာက မျက်နှာကိုမော့၍ စကားဆက်ပြန်သည်။ “

“မော်စကိုက ထွက်လာခါစတုန်းတော့ နာတာရှာ လည်း ဘာမှ မသိခဲ့ပါဘူး။ သူ့အကြောင်းလည်း မမေးရဲ ဘူး။ နာတာရှာတို့ လှည်းတိုက်နဲ့အတူ ပါလာတယ်ဆိုတာ ဆွန်ယာ လာပြောမှ သိရတော့တာပဲ။ ရောဂါအခြေအနေက ဘယ်လောက်အထိ ဖြစ်နေတယ်ဆိုတာလည်း မသိဘူး။  ဘာလုပ်ရမှန်းလည်း မသိဘူး။ သူ့ကို သွားတွေ့ပြီး သူ့ အပါးမှာ ပြုစုချင်တာပဲရှိတယ်” နာတာရှာက အသံတုန် တုန်နှင့် ပြော၏။ နာတာရှာ၏ အသက်ရှူသံသည် လျင်မြန်လျက်ရှိ၏။

ထိုနောက် လမ်းခရီးတစ်လျှောက်၌ ရက်သတ္တ ( သုံးပတ်လုံးလုံး မင်းသားကလေး အင်ဒရေအပါးမှ စောင့် ရှောက်ပြုစုခဲ့ပုံ၊ ယာရိုစလာဗာတွင် ပြုစုခဲ့ပုံ စသည်များကို ပြောပြလျက်ရှိသည်။ နာတာရှာသည် ဤအကြောင်းများကို မည်သူ့မျှ မပြောဖူးသေးချေ။

ပီယာသည် မျက်လုံးတွင် မျက်ရည်အဝဲသား၊ ပါးစပ်အဟောင်းသားဖြင့် နားထောင်နေသည်။ နာတာရှာ ၏ စကားများကို နားထောင်လျက်ရှိသည့် အတောအတွင်း ၌ကား ပီယာသည် မင်းသားကလေးအင်ဒရေ၏ အကြောင်းကို လည်းကောင်း၊ သေခြင်းတရားအကြောင်း ကိုလည်းကောင်း၊ နာတာရှာပြောဆိုသည့် အကြောင်းအရာ များကို လည်းကောင်း မတွေးမိတော့ချေ။ နာတာရှာ၏ စကားများကို နားထောင်ရင်း နာတာရှာကို သနား၍သာ နေမိသည်။ အရွယ်နှင့် သောကကို မမျှအောင် တွေ့ရသည့် နာတာရှာ့အဖြစ်ကိုသာကရုဏာသက်နေမိသည်။

မင်းသမီးလေး မေရီသည် မျက်ရည်များကို ချုပ်တည်းရာက မျက်မှောင်ကုတ်လိုက်လျက် နာတာရှာ၏ အပါးတွင် ဝင်ထိုင်လိုက်သည်။ မင်းသမီးလေး မေရီသည် သူ့မောင်တော် မင်းသားကလေး အင်ဒရေ ကွယ်လွန်ရပုံ နှင့်တကွ နာတာရှာ၏အချစ်ကို နာတာရှာ့ထံမှ ယခုအကြိမ် ပထမဆုံး ကြားရခြင်း ဖြစ်လေသည်။

နာတာရှာကလည်း ဤအကြောင်းကို ဖွင့်ပြောမှ ဖြစ်မည်ဟု ယူဆကာ ဖွင့်ပြောခြင်းဖြစ်ဟန် တူလေသည်။ ဤသို့ ဖွင့်ပြောရခြင်းကြောင့် နာကျင်သောဝေဒနာကို ခံစားရသော်လည်း ရင်ထဲမှာ ပေါ့ပါးသွားသည်ကား အမှန် ပင် ဖြစ်လေသည်။

'နာတာရှာသည် နှလုံးသားထဲတွင်ရှိသော လျှို့ဝှက် ချက်များနှင့်တကွ အသေးစိတ် အခြင်းအရာများကို ပြောပြ လျက်ရှိရာ နာတာရှာ၏ စကားမှာ ဆုံးမှဆုံးပါဦးမည် . လောဟုပင် အောက်မေ့ရ၏။ ပြောပြီးသားကို ထပ်ပြော သည့် အခါပေါင်းလည်း မရေနိုင်ပြီး၊ ထိုအခိုက် တူတော်မောင် "ဘိုးအေချစ်"မင်းသား လေး အိပ်ချိန်ရောက်ပြီ´ ဖြစ်၍ နူတ်ဆက်ဖို့ လွှတ်လိုက် ရမည်လောဟူသော စာပြဆရာ

ဒီဆေးလိ၏ အသံသည် တံခါးဝမှ ပေါ်ထွက်လာ၏။ . "နာတာရှာ သိသလောက် ကတော့ ဒါပါပဲ" နာတာရှာက ဆို၏။

"ဘိုးအေချစ်"မင်းသားကလေး ဝင်လာသည့်အခါ၌ နာတာရှာသည် ရုတ်ခနဲ ထကာ တံခါးဆီသို့ ထွက်သွား၏။ တံခါးမှာ ခန်းဆီးဖုံးထားသဖြင့် နာတာရှာသည် တံခါးကို ခေါင်းနှင့်ဝင်ဆောင့်မိသေး၏။ ထို့နောက်၌ကား နာတာရှာ သည် နာကျင်၍လော၊ ဝမ်းနည်း၍လော မပြောတတ်။ ရှိုက်သံနှင့်အတူ ခန်းဆောင် အပြင်သို့ ထွက်သွားလေသည်။

ပီယာသည် နာတာရှာ ပျောက်ကွယ်သွားသော တံခါးဝကို ငေးကြည့် ကျန်ရစ်ခဲ့၏။ နာတာရှာ ထွက်သွား သည့်နောက်၌ ပီယာသည် ကမ္ဘာလောကကြီး တွင် တစ် ယောက်တည်း နေရသူကဲ့သို့ ဟာလာဟင်းလင်း ဖြစ်၍ ကျန်ရစ်ခဲ့သည်။ မည်သည့်အတွက်ကြောင့် ဤသို့ဖြစ်ရ သည်ကိုမူ စဉ်းစား၍ မရချေ။

" မင်းသမီးလေး မေရီက ခန်းဆောင်ထဲသို့ ဝင်လာ သော "ဘိုးအချစ်" မင်းသားလေးကို နှုတ်ဆက်၍ ချောင်းဟန့်သံ ပြုသည့်အခါကျမှ ပီယာသည် သတိ ပြန်ရ လာ၏။

ဤသို့ စိတ်ဝမ်းကြေကွဲနေသည့် အခိုက်အတန့်၌ ဖအေတူ "ဘိုးအေချစ်" မင်းသားလေး၏ မျက်နှာကို မြင် လိုက်ရသည်တွင် ပီယာမှာ ရင်ထဲတွင် ဆို့နစ်လာ လေ သည်။ ထို့ကြောင့် ပီယာသည် "ဘိုးအေချစ်"မင်းသားလေး ကို နမ်းပြီးနောက် အိတ်ထဲက လက်ကိုင်ပဝါကို ထုတ်လျက် ပြတင်းပေါက်ဆီသို့ ထလာခဲ့သည်။ ပီ ယာသည် မင်းသမီး လေးမေရီကို နှုတ်ဆက်၍ ပြန်သွားလိုသော်လည်း မင်း သမီး လေးမေရီက တားထားသည်။

"နေပါဦး မြို့စားလေးရယ်၊ ထိပ်ထားနဲ့ နာတာရှာ ဟာ တစ်ခါတစ်ခါဆိုရင် နှစ်ချက်တီးကျော်အထိ အိပ်လို့ မပျော်ကြဘူး။ မသွားပါနဲ့ဦး။ထိပ်ထား ညလယ်စာ

အပြင်ခိုင်းလိုက်ပါဦးမယ်။ အောက်ထပ်ကို ဆင်းနှင့်ပါ။ ထိပ်ထားတို့လည်း လာခဲ့ပါ့မယ်”

ခန်းဆောင်ထဲမှ ပီယာထွက်ခွာခါနီး၌ မင်းသမီး လေးမေရီက

”နာတာရှာဟာ သူ့အကြောင်းနဲ့ ပတ်သက်လို့ ဒီလောက်ကြာကြာ တစ်ခါမှ မပြောဖူးဘူး။ ပထမဆုံး အကြိမ် ပြောခြင်းပဲ”ဟု လှမ်းပြောလိုက်သည်။

# အခန်း ၁၇

ပီယာသည် ထိန်လင်းလျက်ရှိသော ထမင်းစားခန်းဆောင် ထဲသို့ ဝင်လာခဲ့လေသည်။ ခဏအကြာ၌ ခြေသံများကြား ရကာ မင်းသမီးလေး မေရီနှင့် နာတာရှာတို့ ရောက်လာကြ သည်။ နာတာရှာမှာ တည်ငြိမ်လျက်ပင် ရှိသော်လည်း သုန်မှုန်တင်းမာသည့် မျက်နှာထားကို ဆောင်လျက်ပင် ရှိသေးသည်။ လှိုက်လှဲလေးနက်သော စကားများကို ပြောဆိုပြီးနောက် “ရှိုးတိုးရှန့်တန့်” ဖြစ်မြဲထုံးစံအတိုင်း ၎င်းတို့သုံးဦးသားသည် ရှိုးတိုးရှန့်တန့် ဖြစ်လျက် ရှိကြ၏။

ယခုအချိန်တွင် မည်သည့်စကားကို ပြောရမည်နည်း။ ခပ်စောစောက အကြောင်းကို ပြန်ကောက်ရန်လည်း မဖြစ် တော့ချေ။ အသေးအဖွဲကလေးများကို ပြောခြင်းမှာလည်း အဓိပ္ပာယ်မရှိလှချေ။ သို့ရာတွင် စကားပြော၍ကား အားမရကြသေး။ တိတ်ဆိတ်နေခြင်းသည် စကားပြောရန် သွေးဆောင်သကဲ့သို့ ရှိလေသည်။ ၎င်းတို့သုံးဦးသည် ထမင်းစားပွဲဆီသို့ တိတ်ဆိတ်စွာထလာခဲ့ကြ၏။ အဆောင်ကိုင်များက ထိုင်ခုံများကို နောက်သို့ဆွဲ၍ ဖယ်ပေးပြီး နေရာ ပြင်ပေးကြ၏။ ပီယာသည် ပဝါခေါက်ကို ဖြေကာ ပေါင်ပေါ်၌ ခင်းလိုက်ပြီးနောက် တိတ်ဆိတ်ခြင်းကို ဖြို ဖျက်ရန် ဆုံးဖြတ်လျက် မင်းသမီးလေး မေရီနှင့် နာတာ ရှာကို ကြည့်လိုက်၏။

၎င်းတို့နှစ်ဦးမှာလည်း တိတ်ဆိတ် ခြင်းကို ဖြိုခွင်းရန် ဆုံးဖြတ်ထားပုံရ၏။ ၎င်းတို့နှစ်ဦး၏ မျက်လုံးများသည် တဖျပ်ဖျပ် တောက်ပလျက်ရှိကြကာ ကျေနပ်နှစ်သိမ့်ခြင်းကို ဖော်ပြလျက် ရှိကြလေသည်။ လူ့ဘဝ၌ ကြေကွဲဝမ်းနည်းခြင်းအပြင် ပျော်ရွှင်ခြင်းလည်း ရှိသေးသည် ဆိုသည့်အချက်ကိုလည်း ထိုမျက်လုံးများက ဝန်ခံလျက်ရှိကြလေသည်။

"မြို့စားလေး၊ ဗော့ဒကာ သောက်မယ်လား" မင်းသမီးလေး မေရီက မေးလိုက်၏။ ထိုစကားများသည် အတိတ်မှ အရိပ်များကို ချေဖျက်ပစ်လိုက်သကဲ့သို့ ရှိလေ သည်။ "ကဲ၊ ထိပ်ထားတဲ့ အတွေ့အကြုံတွေကိုတော့ မင်း ပြောပြလို့ ပြီးပြီ၊ မြို့စားလေးရဲ့ အဖြစ်အပျက်ကို ပြောပြ စမ်းပါဦး။ ထိပ်ထားတို့များဖြင့် တစ်ဆင့်စကား တစ်ဆင့် ကြားနဲ့ပဲ အံ့သြလို့မဆုံးနိုင်အောင် ဖြစ်နေပြီ"

"ဟုတ်ကဲ့"ပီယာက ဝသီပါနေသည့်အတိုင်း သရော်သည့်အပြုံးမျိုးဖြင့် ပြောလိုက်သည်။ "လူတွေက တော့ ကျွန်တော်ကိုယ်တိုင် အိပ်မက်မမက်ဖူးတဲ့ အကြောင်း တွေကို ကျွန်တော့်အကြောင်းဆိုပြီး ပြောနေကြတာပဲ။ မေရီ အဗ္ဗရာမိုဗနာကဆိုရင် ကျွန်တော့်ကို သူ့အိမ်မှာ သိပ်ပြီးတော့ ကျွန်တော့်အတွေ့ အကြုံတွေ၊ အဖြစ်အပျက် တွေကို သူကချည်း ပြောပြတယ်လေ။ ကျွန်တော်က မပြောရဘူး။ ဟားဟား။ စတီပန်က ဆိုရင်လည်း ကျွန် တော့်အကြောင်းကို ပြန်ပြောတဲ့နေရာမှာ လူတွေ စိတ်ဝင် စားအောင် ဘယ်လိုတန်ဆာဆင်ပြီး ပြောရမယ်ဆိုတာ ပြောပြတယ်။ လက်စသတ်တော့ လူအများ စိတ်ဝင် စားစရာကောင်းတဲ့ လူတစ်ယောက်ဖြစ်အောင်လုပ်တဲ့ ကိစ္စဟာ အလွယ်ကလေးပါလားဆိုတာ ကျွန်တော်သိပြီ လေ။ (ခုဆိုရင် စိတ်ဝင်စားစရာ လူတစ်ယောက်လည်း ဖြစ်နေပြီ။ အဲဒီနည်းကတော့ တခြားမဟုတ်ဘူး ထိပ်ထား ေ။လူတွေ ဖိတ်မန္တကပြုတာကို လက်ခံ၊ ကိုယ့်အကြောင်း သူတို့ပြောပြတာကို ထိုင်နားထောင်ရုံပဲခင်ဗျ"

နာတာရှာက ပြုံးလိုက်ပြီးနောက် စကားပြောရန် ဟန်ပြင်လိုက်၏။ မင်းသမီးလေး မေရီက ကြားဖြတ်လျက်

”မြို့စားလေးမှာ မော်စကိုတွင်ပဲ ငွေဒင်္ဂါးနှစ်သန်းဖိုး လောက် ပျက်စီးသွားတယ်လို့ ထိပ်ထားတို့ ကြားတယ် အမှန်ပဲလား”

“ပျက်စီးပေမဲ့ ကျွန်တော့်မှာတော့ သုံးဆလောက် ချမ်းသာသွားတယ် ခင်ဗျ” ပီယာက ပြန်ပြော၏။

ပီယာသည် ကွယ်လွန်သူ ကြင်ရာတော်၏ ကြွေး မြို့များကို ပြန်ဆပ်ရန်နှင့် မော်စကို စံအိမ်များကို ပြင်ဆင်ရန် ဆုံးဖြတ်ပြီးဖြစ်၏။ သို့ရာတွင် ၎င်း၏စိတ်၌မူ ယခင်က ထက် သုံးဆလောက် ချမ်းသာလာသည်ဟု ထင်မှတ်လျက် ရှိလေသည်။

“ကျွန်တော် သေသေချာချာ ရလိုက်တာကတော့ လွတ်လပ်ခြင်းပဲ” ပီယာက အတည်ပြောလိုက်သည်။ သို့ရာတွင် ဤစကားမျိုးသည် မိမိ အတ္တစွဲကြီးပုံကို ဖော် ပြရာ ရောက်လေမည်လောဟု အကဲခတ်ဟန်ဖြင့် စကားကို မဆက်သေးဘဲ ရပ်ထားလိုက်၏။

“စံအိမ်တော်တွေကိုကော ပြန်ပြင်သေးသလား”

“ဟုတ်ကဲ့၊ ကျွန်ယုံတော်ကြီးကတော့ မပြင်ရင် မဖြစ်ဘူးလို့ အကြံပေးထားပါတယ်” ။

“နေစမ်းပါဦး မြို့စားလေးရဲ့။ မြို့စားလေး မော်စ ကိုမှာ နေရစ်မယ်လို့ ဆုံးဖြတ်တဲ့အချိန်တုန်းက ကြင်ရာ တော်ထိပ်ထား ကွယ်လွန်အနိစ္စရောက်တာကို မသိသေး ဘူးလား” မင်းသမီးလေး မေရီက မေးလိုက်သည်။ သို့ ရာတွင် ပီယာက လွတ်လပ်ခြင်းအကြောင်းကို ပြောဆို လျက်ရှိစဉ် ဤမေးခွန်းကို မေးလိုက်မိသည့်အတွက် ၊ အဖြေရ ခက်သွားလေမည်လောဟု အားတုံ့အားနာဖြစ်သွား သည်။

"ဟုတ်ကဲ့ ကျွန်တော် မသိသေးပါဘူး ထိပ်ထား" ပီယာက မင်းသမီးလေး မေရီ၏အမေးကြောင့် မိမိအဖြေ ရခက်သည့် အခြေသို့ ရောက်သွားခြင်းကို လုံးဝ သတိ ထားမိဟန် မတူဘဲ ဖြေလိုက်သည်။ "ကျွန်တော် ဒီ သတင်းကို အိုရဲရောက် တော့မှ ကြားရပါတယ်။ တော်တော် လည်း စိတ်ထိခိုက်လိုက်ပါတယ်။ ကျွန်တော် တို့နှစ် ယောက်ရဲ့ အိမ်ထောင်ရေးဟာ စံပြအိမ်ထောင်ရေးတော့ မဟုတ်ပါဘူး။ အိမ်ထောင်ရေးမှာ နှစ်ယောက်လုံး ကံ မကောင်းကြပါဘူး" ပီယာသည် နာတာရှာ ကို ဖျပ်ခနဲ လှမ်းကြည့်လိုက်၏။ နာတာရှာသည် ပီယာက ၎င်း၏ ကြင်ရာတော် အကြောင်းကို မည်သို့ ပြောဆိုလေမည် နည်းဟု စိတ်ဝင်စားလျက် ရှိ၏။ "ဒါပေမဲ့ သူဆုံးတယ် ဆိုတဲ့ သတင်းကြားရတော့ ကျွန်တော် တော်တော်လေး စိတ်ထိခိုက် သွားတယ်။ လူနှစ်ယောက် ရန်ဖြစ်ကြတဲ့အခါ မှာ နှစ်ယောက်လုံး အပြစ်ရှိကြတာ ပါပဲ။ အဲဒီတုန်းမှာ တစ်ယောက်မရှိတဲ့အခါကျတော့ ကျန်တဲ့ တစ်ယောက်ရဲ့ အပြစ်ဟာ ပိုပြီး ကြီးလေးတယ်လို့ ရုတ်တရက် ထင်လာ ရတယ်။ အင်း သူ့ခမျာ လည်း သေကံတော့ မကောင်း ရှာပါဘူး။ မိတ်ဆွေရောင်းရင်း မရှိ၊ အားပေး နှစ်သိမ့်မယ့် လူမရှိနဲ့ သေသွားရရှာတာပဲ။ ကျွန်တော်သူ့အတွက် စိတ် မကောင်းပါ ဘူး"

ပီယာက နိဂုံးချုပ်လိုက်၏။ ၎င်း၏စကားကို ဝမ်းမြောက်စွာ ထောက်ခံသည့် အမူအရာကို နာတာရှာ၏ မျက်နှာပေါ်တွင် မြင်လိုက်ရခြင်းကြောင့် ကျေနပ်လျက် ရှိ ရှိလေသည်။

"ခုတော့ မြို့စားလေးလဲ လူပျိုကြီးစာရင်း ဝင် သွားပြန်ပြီပေါ့" မင်းသမီး လေး မေရီက ပြောလိုက်၏။

ပီယာ၏မျက်နှာသည် နီရဲသွား၏။ ပီယာသည် နာတာရှာကို မကြည့်ဘဲ မျက်နှာလွှဲထားလိုက်သည်။ အတန်ကြာမှ နာတာရှာဘက်သို့ မရဲတရဲ လှမ်းကြည့်

လိုက်သည်တွင် နာတာရှာ၏ မျက်နှာမှာ ခပ်မှုန်မှုန်ဖြစ် လျက် ရှိခြင်းကို တွေ့ရ သည်။

"ဒါထက် နပိုလီယန်နဲ့တွေ့ပြီး စကားပြောခဲ့ရ တယ်လို့ ကြားပါတယ်။ အဲဒါ ကော ဟုတ်သလား" မင်းသမီးလေးမေရီက မေး၏။

ပီတာက ရယ်လိုက်သည်။

"ကြဲကြဲဖန်ဖန် ထိပ်ထားရယ်။ တစ်ခါမှ မတွေ့ ခဲ့ပါဘူး။ သုံ့ပန်းအဖြစ် အ ဖမ်းခံရတာကို နပိုလီယန်ရဲ့ ညွှန်ကြားချက်တော် ဖြစ်ရတယ်လို့ လူတွေက ထင်ကြ တယ်။ နပိုလီယန်နဲ့ တွေ့ဖို့မပြောနဲ့ သူ့အကြောင်း ပြောသံတောင် မကြားရဘူး။ ကျွန်တော်တို့ကို ထားတာက အောက်တန်း အကျဆုံးဆိုတဲ့ တပ်သားတွေကြားထဲ မှာ ထားတာပဲ"

ညလယ်စာ စား၍ ပြီးသွားကြ၏။ အစပထမ၌ အဖမ်းခံရပုံအကြောင်းကို ပြောရန် ပီယာက ငြင်းသေး သော်လည်း နောက်ဆုံး၌ မငြင်းသာတော့ဘဲ ဖွင့်ပြော ရလေ သည်။

"နပိုလီယန်ကို သတ်ဖို့ အစ်ကို မော်စကိုမှာ နေ ရစ်ခဲ့တယ် ဆိုတာကော ဟုတ်သလား" နာတာရှာက ခပ်ပြုံးပြုံးဖြင့် မေး၏။ "စုခါရက် မျှော်စင်ကြီး နားမှာ တွေ့တုန်းက နာတာရှာ ရိပ်မိပါတယ် အစ်ကိုရဲ့၊ မှတ်မိ သေးလား"

ပီယာက နပိုလီယန်ကို သတ်ရန် ကြံစည်ခဲ့သည်မှာ မှန်ကြောင်းဖြင့် ဝန်ခံ၏။ ထို့နောက်၌ကား မင်းသမီး လေးမေရီ တဖွဖွမေးမြန်းခြင်း၊ အထူးသဖြင့် နာတာရှာက တတွတ်တွတ် မေးမြန်းလျက် ရှိခြင်းကြောင့် ပီယာမှာ မနေသာ တော့ဘဲ ၎င်း၏အဖြစ်အပျက်များကို ခရေစေ့တွင်း " ကျ ပြောပြရလေသည်။

အစပထမတွင် ပီယာသည် ပတ်ဝန်းကျင်နှင့်တကွ မိမိကိုယ်ကိုမိမိ လှောင်ပြောင်ရယ်မောလိုသည့် ဝသီစွဲကပ် လျက်ရှိသည့်အလျောက် ခပ်ပြုံးပြုံး ဖြင့် ပြောပြ၏။ သို့ရာ  တွင် မိမိတွေ့မြင်ခဲ့ရသော ဒုက္ခများ၊ ကြောက်ခမန်းလိလိ သေကြေပျက်စီးခဲ့ပုံများကို ပြောပြသည့်အခါ၌ကား ပီယာ မှာ မသိမသာ စိတ်အား ထက်သန်လာခဲ့လေပြီ။ လူများ သည် မိမိကိုယ်တိုင် နာနာကြည်းကြည်း တွေ့ခဲ့ရ သည့် အဖြစ်အပျက်များကို ပြန်လည်ပြောပြသည့်အခါ၌ ထို အဖြစ်မျိုးကို ထပ်မံ တွေ့ကြုံခံစားလျက် ရှိသကဲ့သို့ အသစ် တစ်ဖန် ပြန်လည်ခံစားရကာ စိတ်အား ထက်သန်ခြင်း ဖြစ်လေ့ရှိရာ ပီယာသည်လည်း ဤစိတ်အားထက်သန် ခြင်းမျိုးဖြင့် ပြောပြလျက်ရှိလေသည်။

မင်းသမီးလေးမေရီသည် သိမ်မွေ့စွာပြုံးလျက် ပီယာကို တစ်လှည့် နာတာ ရှာကိုတစ်လှည့် ကြည့်လျက် ရှိ၏။ ပီယာပြောပြသည့် စကားများထဲတွင် ပီယာနှင့် ပီယာ၏ စိတ်သဘောထားမြင့်မြတ်ခြင်းကိုသာ မင်းသမီး လေးမေရီ မြင်ရ၏။ နာ တာရှာသည် တံတောင်ဆစ်ကို ထောက်၍ နားထောင်လျက်ရှိ၏။ နာတာရှာ၏ မျက်နှာ သည် ထိတ်လန့်စရာကို ကြားရလျှင် ထိတ်လန့်သော အမူအရာ၊ အံ့သြ စရာကို ကြားရလျှင် အံ့သြသည့်အမူအရာ စသဖြင့် တစ်မျိုးပြီးတစ်မျိုး အမူအရာ ပြောင်းလျက်ရှိ၏။ ထိုမျှမက ပျံ့လွင့်ခြင်း မရှိသော အာရုံဖြင့် စူးစိုက်နားထောင် လျက် ရှိလေရာ ပီယာပြောပြသမျှ အဖြစ်အပျက်များကို သူကိုယ်တိုင် တွေ့ကြုံ ခံစားနေရသကဲ့သို့ ထင်မှတ်မိလေ သည်။ နာတာရှာသည် တစ်ချီတစ်ချီ၌လည်း ကြားဝင် မေးမြန်းခြင်း၊ အာမေဋိတ်ပြုခြင်း စသည်တို့ကို ပြုလုပ် တတ်ရာ ပီယာ ဆိုလိုသည့်အဓိပ္ပာယ်ကို ကောင်းစွာနားလည် ပုံရ၏။ နာတာရှာသည် ပီယာ ပြောဆိုလျက်ရှိသည့် စကား များကိုသာမက စကားဖြင့် ထုတ်ဖော်ပြောလို သော်လည်း ပြောဆိုနိုင်ခြင်း မရှိသော ပီယာ၏ ခံစားချက်များကိုပါ နားလည်ပုံရ

ပေသည်။ ပီယာက ကလေးတစ်ယောက်ကို ကယ်ခဲ့ပုံ၊ မိန်းမပျိုတစ်ဦးအား ပြင်သစ်တို့က စော်ကား မည်အပြုတွင် ကာကွယ်ပေးခဲ့ပုံတို့ကို ပြောပြ၏။

"အို၊ ကြည့်ရက်စရာ မရှိပါဘူး ထိပ်ထားရယ်။ တချို့ကလေးတွေ ဆိုရင်လည်း လမ်းပေါ်မှာ၊ တချို့လည်း မီးထဲမှာ ဒီအတိုင်းပဲ စွန့်ပစ်ခဲ့ကြတာပဲ။ ကလေးတစ် ယောက်တော့ ကျွန်တော့်ရှေ့တွင် မီးပုံထဲက ဆွဲထုတ်ခဲ့ ရတယ်။ မိန်းမတွေဆိုရင်လည်း ပါသမျှ ပစ္စည်းလေးတွေ အလုခံလိုက်ရတာပဲ။ တချို့ များ နားကနားဆွဲကို ဆွဲဖြုတ်  သွားတာ နားရွက်တစ်ခြမ်း ပါသွားကြတယ်။ အဲဒီတုန်း ပြင်သစ်ကင်းတွေ ရောက်လာကြပြီး လူကောင်းတွေ အားလုံးကို သိမ်းကျုံးဖမ်းသွားတာပဲ။ ကျွန်တော်လည်း ဒီလိုပါသွားတာပါ)

"အစ်ကိုဟာ တစ်ခုခုတော့ လုပ်ခဲ့ဦးမှာပဲ။ တချို့ ဟာတွေကို မပြောသေးဘဲ တမင်ချန်ထားတယ်လို့ ထင် တယ်" နာတာရှာက ဆို၏။ "

ပီယာက ဆက်၍ပြောပြ၏။ လူသတ်ကုန်းတွင် ကားစင်တင်၍ သေနတ်နှင့် ပစ်သတ်သည့်အကြောင်းကို ပြောပြရာ၌ ပီယာသည် စိတ်နှလုံး ချောက်ချားစရာမြင်ကွင်းများကို မပြောဘဲ ချန်ထားလိုက်၏။ သို့ရာတွင် နာတာရှာက ခရေစေ့တွင်းကျ ပြောပြရန် ပူဆာလျက် ရှိလေသည်။

ပီယာသည် ကာရာတာယက်အကြောင်းကိုလည်း စတင်ပြောဆိုပြီးနောက် ခေတ္တရပ်လိုက်သည်။ ပီယာသည် ထိုင်ရာမှထကာ ခန်းဆောင်ထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်နေသည်။ အတန်ကြာမှ

"ကာရာတာယက်ဟာ စာတစ်လုံးမှ တတ်တဲ့လူ တစ်ယောက် မဟုတ်ဘူး။ ဒါပေမဲ့ အဲဒီလို စာတစ်လုံးမှ မတတ်တဲ့ တောသားလယ်သမားကြီးတစ်ယောက်ဆီက ကျွန်တော့်အဖို့ ပညာတွေ အများကြီးရတယ်ဆိုရင် ထိပ် ထားတို့ အံ့သြလိမ့်မယ်"

“ပြောပါ အစ်ကိုရဲ့ နားထောင်ရတာပေါ့။ ခု အဲဒီအဘိုးကြီးကော”

“လမ်းမှာ ပစ်သတ်ခံရလို့ သေရှာပါပြီကွယ်။ အစ်ကိုမျက်စိရှေ့တွင် ဆိုတော့ စိတ်မကောင်းလိုက်တာ”

ပီယာသည် မိမိတို့မော်စကိုမှ ဆုတ်ခွာလာရပုံ၊ ကာရာတာယက်နာမကျန်း ဖြဘ်ပုံ၊ ပခ်သတ်ခြင်း ခံရပုံတို့ကို တုန်ရင်သော အသံဖြင့် ပြောပြ၏။ ( ပီယာက ၎င်း၏ စွန့်စားခန်းများကို ပြောပြ၏။ ထိုအကြောင်းများကို ၎င်းကိုယ်တိုင်ပင် တစ်ခါမျှ ပြန်၍ မတွေးခဲ့ဖူးသေးချေ။ ယခုမူကား မိမိဖြတ်သန်းလာခဲ့ရသည့် အတွေ့အကြုံများ၊ အဖြစ်အပျက်များထဲမှ အဓိပ္ပာယ်သစ် တစ်ခုကို တွေ့လေပြီ။ ယောကျ်ားတစ်ယောက်သည် မိမိ စကားပြောလျက်ရှိစဉ် မိန်းမများက စိတ်ဝင်စား စွာ နား ထောင်လျက် ရှိခြင်းကို တွေ့ရသည်၌ များစွာ ကြည်နူးခြင်း ဖြစ်တတ်လေ ရာ ပီယာသည်လည်း နာတာရှာက မိမိ၏ စကားများကို စိတ်ပါဝင်စားစွာ နားထောင်လျက်ရှိခြင်း ကို တွေ့ရသည်၌ ကြည်နူးခြင်းမက ကြည်နူးလျက်ရှိလေ - သည်။ ယောကျ်ားတစ်ဦး၏ အနီးတွင်ထိုင်၍ ထိုယောကျ်ား ၏ စကားများကို နားထောင်ကြသည့် မိန်းမများ၌ ရည် ရွယ်ချက် အမျိုးမျိုး ရှိတတ်ကြသည်တွင် အချို့မှာ စိတ် , ကူးဉာဏ်ကို ရင့်သန်ကြွယ်ဝအောင် နားထောင်ကြခြင်း ဖြစ်၏။ အချို့ကား အခွင့်ကြုံလျှင် တစ်ဆင့် “ဖောက်သည် ချရန်' နားထောင်ကြခြင်း ဖြစ်၏။ အချို့ကား တစ်ပါးသူ ပြောပြသော အဖြစ်အပျက်များကို မိမိစိတ်ကူးဖြင့် ဟပ်၍ စဉ်းစားရင်း နားထောင်တတ်ကြ၏။ အချို့ကား ၎င်းတို့၏ သေးငယ်သော “စိတ်အလုပ်ရုံ”ကလေးထဲတွင် ပြုလုပ် ပြင်ဆင်ထားသော စကားလုံးကလေးများ ဖြင့် “အလိမ္မာ” လုပ်၍ ထင်မြင်ချက်ပေးရန် နားထောင်ကြခြင်း ဖြစ်လေ သည်။ သို့ရာတွင် နာတာရှာကား အဆိုပါ မိန်းမစားမျိုး မဟုတ်ချေ။ နာတာရှာသည် ယောကျ်ားတစ်ယောက်၏ စကားထဲမှ ထိုယောကျ်ား၏ အကောင်းဆုံး

အရည်အချင်း၊ အမွန်မြတ်ဆုံး အရည်အချင်း၊ အတော်ဆုံး အရည်အချင်း ကို ရွေးထုတ်တတ်ခြင်း၊ ထိုအရည်အချင်းတို့ကို စိတ်ဝင် စားတတ်ခြင်း စသည့် အရည်အသွေးတို့ဖြင့် ပြည့်စုံသော မိန်းမပီသသည့် မိန်းမတစ်ဦး ဖြစ်လေသည်။ ထို့ကြောင့် ပီယာ ရရှိသော ကြည်နူးမှုသည်လည်း အဆိုပါ မာယာ ပရိယာယ်များ လှသော မိန်းမများနှင့် စကားပြောရခြင်း ကြောင့် ဖြစ်သော ကြည်နူးမှုမျိုး မဟုတ်ဘဲ မိန်းမပီသသော မိန်းမများသာ ပေးနိုင်စွမ်းရှိသည့် ကြည်နူးမှုမျိုး ဖြစ်လေသည်။ နာတာရှာကား ဤအချက်များကို သတိထားမိ ဟန်မရှိဘဲ ပီယာ၏စကားများထဲ၌သာ နစ်မြုပ်လျက် ရှိ၏။ နာတာရှာသည် ပီယာ၏ စကားလုံးတိုင်းကိုလည်း ကောင်း၊ အသံတုန်ခြင်းကို လည်းကောင်း၊ မျက်နှာကို လည်းကောင်း၊ မဲ့ရွဲ့ခြင်းကို လည်းကောင်း တဒင်္ဂကလေးမျှ အလွတ်မခံဘဲနားထောင်၏။ ကြည့်၏။ မပြီးသေးသော စကားတစ်လုံးကို ဖမ်းယူကာ ၎င်း၏အသည်းနှလုံးထဲသို့ ထည့်သွင်း၏။ ပီယာ၏ စေတသိကဒုက္ခဟူသမျှကို ပီယာ နှင့် ထပ်တူလိုက်၍ ခံစား၏။

မင်းသမီးလေး မေရီသည်လည်း ပီယာ၏ အဖြစ် အပျက်ကို နားလည်သဘောပေါက်ကာ ပီယာကို ကရုဏာ  သက်ခြင်း ဖြစ်မိ၏။ မိမိ၏စိတ်ကို ပို၍ ဝင်စားစေသော အခြင်းအရာသစ်တစ်ခုကိုလည်း တွေ့၏။ နာတာရှာနှင့် ပီယာတို့ တစ်ဦးကိုတစ်ဦး မေတ္တာသက်ဝင်ကြလျက် ဇနီးမောင်နှံအဖြစ်နေထိုင်လျှင် မည်မျှ ကြည်နူးဖွယ် ကောင်း လေမည်နည်းဟု တွေးမိ၏။ ဤသို့ တွေးမိရင်းလည်း ကြည်နူးခြင်း ဖြစ်မိသည်။

နံနက် သုံးချက်တီးခန့် ရှိလေပြီ။ အဆောင်ကိုင် များသည် အိပ်မှုန်စုံမွှား အမူအရာဖြင့် ဖယောင်းတိုင်များ ကို လဲ၍ ထွန်းညှိပေးကြ၏။ သို့ရာတွင် ဤအချက်ကို မည်သူမျှ သတိမပြုမိကြချေ။

၊ ပီယာသည် ၎င်း၏အဖြစ်အပျက်ကို နိဂုံးချုပ်၏။ နာတာရှာသည် တောက်ပဝင်းလက်သော မျက်လုံးများဖြင့် ပီယာကို ရွှန်းရွှန်းစားစားကြီး ကြည့်လျက်ရှိသည်။ ပီယာ၏ ရင်ထဲ၌ မပြောဘဲ ခြွင်းချန်ထားသော စကားများ ရှိလိမ့် ဦးမည်အထင်ဖြင့် ထိုစကားများ၏ အနက်အဓိပ္ပာယ်ကို စဉ်းစားနေဟန်ရှိလေသည်။ ပီယာသည် ပေါ့ပါးရွှင်လန်း သွားသော်လည်း "အိုးတိုးအမ်းတမ်း" မျက်နှာထားဖြင့် နာတာရှာကို မကြာခဏ လှမ်းကြည့်လျက်ရှိရာက နောက် . ထပ် မည်သည့် အကြောင်းအရာမျိုးကို ပြောဆိုရမည်နည်း ဟု စဉ်းစားလျက်ရှိသည်။ မင်းသမီးလေး မေရီမှာလည်း တိတ်ဆိတ်လျက်ရှိ၏။ သုံးချက်တီး၍ အိပ်ချိန်သို့ ရောက် ပြီဖြစ်ကြောင်းကို မည်သူမျှ သတိထားမိပုံ မရကြချေ။

"လူတွေဟာ ဆင်းရဲဒုက္ခနဲ့ ကံတရားအကြောင်းကို မကြာခဏ ပြောတတ်ကြတယ်"ပီယာက ပြောလိုက်၏။ "ဒါပေမဲ့ ခုအချိန်မှာ (မင်း သုံ့ပန်းအဖြစ် အဖမ်းမခံရခင် တုန်းကလို ချမ်းချမ်းသာသာ နေချင်သလား။ သုံ့ပန်း ဘဝမျိုးကို ပြန်တွေ့ချင်သေးသလား။)လို့ ကျွန်တော့်ကို လာမေးရင် ကျွန်တော်တော့ သုံးပန်းပြန်အဖြစ်ခံပြီး မြင်း သားကို စားနေချင်တယ်လို့ပဲ ပြောမှာပဲ။ တကယ်ပဲ။ အရင်ကလို မနေချင်တော့ဘူး။ ခက်တာက လူတွေဟာ ကိုယ်သွားရိုးသွားစဉ် လမ်းကြောင်း ကျဉ်းကျဉ်းကလေး ပေါ်က ဘေးကို လွင့်စဉ် သွားတယ်ဆိုရင်ပဲ တစ်သက်မှာ ဘဝဆုံးပြီလို့ ထင်တတ်ကြတယ်။ ကျွန်တော့် အမြင် ကတော့ အဲဒီ သွားလမ်းကလေးပေါ်က လွင့်စဉ်သွား ခြင်းဟာ ဘဝသစ်ရဲ့ အစပဲ၊ ကောင်းမွန်ခြင်းရဲ့ အစပဲလို့ ထင်တယ်။ လောကမှာ အသက်ရှင်သန်ခြင်းဆိုတဲ့ ဘဝရှိနေ  သေးရင် ပျော်ရွှင်ခြင်းဆိုတာလည်း ရှိတာပါပဲ။ ကျွန်တော် တို့ဟာ ခုအသက်ရှင်နေကြတယ်။ ဒါကြောင့်မို့ ကျွန်တော် တို့ရှေ့မှာ ပျော်စရာတွေ တပုံကြီး ရှိသေးတယ်။ အများကြီး ရှိသေးတယ်လို့ ထင်တယ်။ မဟုတ်ဘူးလား ညီမ"

ပီယာက နာတာရှာကိုလှည့်၍ မေးလိုက်၏။

"ဟုတ်တယ် အစ်ကို၊ ဟုတ်တယ်" နာတာရှာက ( အားတက်သရော ထောက်ခံ၏။ "နာတာရှာကတော့ လောကကြီးမှာ ဘယ်ဒင်းကိုမှ မလိုချင်ဘူး။ လူ့ဘဝကို အစက ပြန်ပြီး အသစ်ပြန်နေချင်တာ တစ်ခုပဲ"

ပီယာသည် နာတာရှာကို စိုက်ကြည့်၏။

"ဒါကလွဲလို့ တခြားဘာမှ ထပ်မလိုချင်ဘူး" နာတာရှာက ထပ်ဆို၏။

"ဒီလိုတော့လည်း မဖြစ်နိုင်သေးဘူးပေါ့ နာတာ ရှာ" ပီယာက ဆို၏။ "ဘဝဆိုတာ အစ်ကိုတို့ နာတာရှာတို့ ဖြစ်ချင်တိုင်းလည်း ဖြစ်ကြတာမှ မဟုတ်ဘဲ"

နာတာရှာသည် ခေါင်းကို ငုံလိုက်၏။ ထို့နောက် မျက်နှာကို လက်ဝါးဖြင့် အုပ်လျက် ငိုနေလေသည်။

"ဘာဖြစ်လို့လဲ ညီမ"မင်းသမီးလေး မေရီက မေး၏။

"ဘာမှ မဖြစ်ပါဘူး အစ်မတော်ထိပ်ထား။ အိပ် ကြစို့။ ညဉ့်နက်လှပြီ" နာတာရှာက မျက်ရည်များကြား မှ ပြုံး၍ ပီယာကို ကြည့်၏။

ပီယာသည် နှုတ်ဆက်၍ ထလာခဲ့လေသည်။

မင်းသမီးလေး မေရီနှင့် နာတာရှာတို့သည် ထုံးစံ အတိုင်း အိပ်ခန်းဆောင်တွင်း၌ ဆုံကြ၏။ ပီယာပြောသွား သည့် စကားများကို ပြန်ပြောကြ၏။ မင်းသမီးလေး မေရီက ပီယာနှင့်ပတ်သက်၍ မည်သို့မျှ ထင်မြင်ချက် မပေး။ နာတာရှာလည်း ပီယာအကြောင်းကို စကားမစချေ။

"ကဲ၊ အိပ်ပေတော့ အစ်မတော်ထိပ်ထား" နာတာ ရှာက ဆို၏။ "ဩော် အစ်မတော်ထိပ်ထား မှတ်မိသေး သလား။ နာတာရှာတို့ ရင်ထဲမှာ ခံစားနေရတဲ့

ခံစားချက် တွေကို စကားနဲ့ပြောလို့ ရနိုင်မှာမဟုတ်တဲ့အတွက် သူ့ အကြောင်း (မင်းသားကလေး အင်ဒရေကို ဆိုလိုခြင်း ဖြစ်၏။)ကို မပြောကြစတမ်းဆိုရင် နာတာရှာတို့ တစ်တွေ ဟာ သူ့ကို မေ့သွားကြတော့မှာပဲလို့ နာတာရှာ ပြောဖူး တယ်လေ"၊ မင်းသမီးလေး မေရီသည် နာတာရှာ၏စကား များကို ထောက်ခံသည့် အနေဖြင့် သက်ပြင်းကို ရှိုက်လိုက် ၏။ သို့ရာတွင် ပါးစပ်ကမူ ထုတ်ဖော်ပြောဆိုခြင်းမပြု ချေ။ .

"မေ့နိုင်ပါ့မလား ညီမရယ်"မင်းသမီးလေး မေရီ က ဆို၏။

, "ဒီနေ့ သူ့အကြောင်းတွေကို အစ်ကိုကို ဖွင့်ပြော လိုက်တာပဲ ထိပ်ထားရေ။ ပြောနေတုန်းမှာ ရင်နာရပေမယ့် ပြောပြီးတဲ့အခါကျတော့ ရင်ထဲမှာ ပေါ့သွားတယ်။ သိပ်ကို ပေါ့သွားတယ်။ အစ်ကိုဟာ သူ့ကို တော်တော်ချစ်ရှာ သားပဲ။ ဒါကြောင့်မို့လည်း သူ့အကြောင်းကို ခရေစေ့ တွင်းကျ ပြောပြလိုက်တယ်။ နာတာရှာ မမှားပါဘူးနော်" နာတာရှာက မျက်နှာနီရဲလာရင်း ပြော၏။

"မြို့စားလေးကို ပြောလို့ ကိစ္စမရှိပါဘူးကွယ်။ မြို့စားလေးဟာ စိတ်ကောင်း နှလုံးကောင်းရှိသူ တစ် ယောက်ပဲ" မင်းသမီးလေး မေရီကဆို၏။

"အစ်မတော်ထိပ်ထား သတိထားမိရဲ့လား" နာတာရှာက နောက်သလို ပြုံး၍ဆို၏။ နာတာရှာသည် ဤသို့ ပြုံးသည်ကို မင်းသမီးလေး မေရီ မမြင်ရသည်မှာ ကြာပြီဖြစ်၏။ "အစ်ကိုကို ကြည့်ရတာ အတော် သပ်သပ် ရပ်ရပ် ဖြစ်လာတယ်နော်။ လူလည်း တော်တော်နုသွား တယ်။ ရေနွေးနဲ့စိမ် ရေချိုးသန့်စင်လာသလို သန့်သန့် ရှင်းရှင်းလည်း ဖြစ်လာတယ်။ ညီမဆိုလိုတာ နားလည် မလား မသိဘူး။ ဟို ဟိုလေ ဝိတ်ဓာတ်ကို သန့်ရှင်းပစ်လိုက် သလို လုံးလုံးကြီးပြောင်းသွားတာပဲ။ မဟုတ်ဘူးလားဟင် အစ်မတော်ထိပ်ထား"

"ဟုတ်တာပေါ့ ညီမရယ်။ တော်တော်ကြီးကို စိတ်ပြောင်းသွားတာပဲ"

“အံမယ် အင်္ကျီကလည်း ဝတ်ရုံတိုနဲ့။ ဆံပင်တွေ ဘာတွေညှပ်ပြီး သပ်သပ်ရပ်ရပ်ပြီးလို့။ တကယ့်ကို ရေချိုး သန့်စင်ပြီး ထွက်လာတဲ့ လူတစ်ယောက်လိုပဲ။ မေဖျား လည်း”

“ဒါကြောင့်လည်း သူက(မင်းသားကလေး အင်ဒ ရေ) မြို့စားလေးကို ခင်တာပေါ့ ညီမရဲ့။ မြို့စားလေးကို အခင်ဆုံးပဲ”

“သူတို့နှစ်ယောက်ဟာ အသွင်အပြင် စိတ်သဘော ထားချင်းသာ မတူကြပေမယ့် တော်တော်ချစ်ကြသားနော်။ ဒါကြောင့် ယောကျ်ားတစ်ဦးနဲ့တစ်ဦး အသွင်မတူ ခြား နားကြရင် အဆွေခင်ပွန်း ဖြစ်တတ်ကြတယ်လို့ ပြောကြ တာကိုး။ ဟုတ်မှာပဲ။ တကယ်ပဲ ထိပ်ထား။ သူတို့နှစ် ယောက်ဟာ စိတ်သဘောထားမှာရော အသွင်အပြင် အမူအရာမှာရော အစစအရာရာ လုံးဝမတူကြဘဲနဲ့ သိပ် တည့်ကြတာပဲ”

“ဒါပေမဲ့ကွယ် မြို့စားလေးကတော့ အံ့သြစရာ ကောင်းပါတယ်”

“ကဲ အိပ်ကြစို့ အစ်မတော်ထိပ်ထား”နာတာရှာ က ဆို၏။

နောက်ရွှတ်ရွှတ် အပြုံးသည် ပိုင်ရှင်မေ့၍ ကျန်ရစ်ခဲ့ သော ပစ္စည်းကလေး တစ်ခုသဖွယ် နာတာရှာ၏ မျက်နှာ ပေါ်၌ အချိန်အတန်ကြာမျှ ပျောက်ကွယ်ခြင်း မရှိဘဲ ကျန်ရစ်ခဲ့လေသည်။

## အခန်း ၁၈

ထိုနေ့ညဉ့်၌ ပီယာသည် တော်တော်နှင့် အိပ်မပျော်ချေ။ ပီယာသည် ခန်းဆောင်ထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်လျက်ရှိ၏။

တစ်ခါတစ်ရံ၌လည်း အလွန် ခက်ခဲသော ပြဿနာကြီးတစ်ခုကို မျက်မှောင်ကုတ်၍ စဉ်းစား၏။ တစ်ခါတစ်ရံ၌လည်း မျက်တောင် ပေကလပ် 'ပေကလပ်ပြုရင်း ပခုံးကိုတွန့်၏။ တစ်ခါတစ်ရံ၌လည်း ရွှင်လန်းစွာ ပြုံးလျက် ရှိလေသည်။

ပီယာသည် မင်းသားကလေး အင်ဒရေ၏ အကြောင်းကိုလည်း တွေးမိ၏။ နာတာရှာ၏ အကြောင်း ကိုလည်း တွေးမိ၏။ တစ်ဖန် ၎င်းတို့နှစ်ဦး၏ အချစ်ကိစ္စကို တွေးမိရာမှ နာတာရှာ၏အတိတ်က အဖြစ်အပျက် ( အတွက် မနာလိုဝန်တိုခြင်းလည်း ဖြစ်မိ၏။ ထိုနောက်မှ သာ ဤသို့ မနာလိုဖြစ်မိခြင်းအတွက် ကိုယ့်ကိုယ်ကို ဆုံးမရလေသည်။ နံနက် ခြောက်ချက်တီးပြီ ဖြစ်သော်လည်း ပီယာမှာ ခန်းဆောင်ထဲတွင် လမ်းလျှောက်လျက်ပင် ရှိ လေသည်။

"က် ရှောင်လို့မရဘူးဆိုရင် ဘာလုပ်မလဲ။ ဘယ်လို ဖြေရှင်းမလဲ ပီယာ။ ကံတရားကတော့ ဖန်တီးလာပြန်ပြီ"

ပီယာသည် ကိုယ့်ကိုယ်ကို မေးမိ၏။ ထို့နောက် လျင်မြန်စွာ အဝတ်အစားလဲပြီးနောက် ဝမ်းသာကြည်နူး ခြင်းဖြင့် အိပ်ရာပေါ်သို့ လှဲလိုက်သည်။ သို့သော်လည်း တွေဝေခြင်း တတ်ဆိုင်းခြင်းတို့ မရှိတော့ အဖြစ် လျှောက်ကြရ

"သူနဲ့ငါ ဘဝခရီးဖော်တွေအဖြစ် လျှောက်ကြရ မယ်ဆိုရင် ဘယ်လို အလုပ်ကိုပဲ လုပ်ရလုပ်ရ ငါမကြောက် ပါဘူး။ ပျော်ပျော်ကြီး လုပ်ရဲပါတယ်"ပီယာသည် တစ် ယောက်တည်း ပြောမိ၏။

ပီယာသည် ပီတာစဘတ် ရွှေမြို့တော်သို့ သော ကြာနေ့တွင် ထွက်ခွာသွားရန် လွန်ခဲ့သည့် ရက်အနည်း ငယ်က ဆုံးဖြတ်ခဲ့၏။ ကြာသပတေးနေ့နံနက် အိပ်ရာမှ နိုးချိန်သို့ ရောက်သောအခါ ကျွန်ယုံကြီး ဆာလီဗစ် ရောက်လာကာ ခရီးသွားဖို့ ပြင်ဆင်ရမည်လောဟု မေး မြန်းခြင်း ပြုလေသည်။

“ဘာလဲ ပီတာစဘတ်ကို သွားဖို့လား။ ပီတာ စဘတ်က ဘာလဲ။ ပီတာစဘတ်မှာ ဘယ်သူရှိလို့ သွား ရမှာလဲ"ပီယာသည် စိတ်ထဲတွင် ကိုယ့်ကိုယ်ကို ပြန်မေး မိ၏။ “အို သူနဲ့မတွေ့ခင်ကတည်းက ပီတာစဘတ် ကိုသွားဖို့ ဆုံးဖြတ်ထားတာပါကလား”ဟု အမှတ်ရလာ၏။ “ကြည့်စမ်း ကျွန်ယုံတော်ကြီးဟာ သတိကောင်းပေသားပဲ။ သူ သတိရပေလို့ပေါ့။ ကြည့်စမ်း၊ ကြည့်စမ်း။ ကျွန်ယုံတော်ကြီးက ငါ့ကို ကြည့်နေလိုက်တာ ပြုံးလို့”ပီယာသည် ကျွန်ယုံတော် အဘိုးကြီး၏ မျက်နှာကို ကြည့်၍ တွေး၏။

“ကဲ ကျွန်ယုံတော်ကြီး ကျွန်အဖြစ် ကင်းလွတ် ခွင့်ပေးတာကို ခုထက်ထိ လက်မခံသေးဘူးလား။ ဆိုစမ်း” ပီယာက မေး၏။

“ကျွန်တော်တို့အဖို့ ကျွန်စာရင်းက လွတ်တော့ ကော ဘာအကျိုးထူးဦးမှာလဲ သခင်လေးရဲ့။ ကျွန်တော်တို့ တစ်တွေ ဟိုသခင်ကြီးလက်ထက်ကတည်းက အမှုထမ်း ခဲ့ကြတယ်။ ခု သခင်လေး လက်ထက်မှာလည်း ဆက်ပြီး အမှုထမ်းတယ်။ ကျွန်တော်တို့မှာ ဘာမှ နစ်နာဆုံးရှုံးခြင်း မရှိခဲ့ဖူးဘူး”

“ခင်ဗျားရဲ့ သားသမီးတွေ လက်ထက်ကျတော့ 11.1.1 ကော”

“ကျွန်တော့်ရဲ့ သားသမီးတွေ လက်ထက်လည်း အမှုထမ်းမြဲ ထမ်းမှာပဲ။ ဒီလို သခင်မျိုးဆီမှာ ကျွန်စာရင်းခံ  ရလို့တော့ ဆယ်သက်ခံရပါစေ သခင်လေးရယ်”

“ကဲ ကောင်းပါပြီဗျာ။ ကျုပ်သားသမီးတွေ လက် ထက်ကျတော့ကော။ ဆိုပါစို့။ ကျုပ်က နောက်အိမ်ထောင် ပြုလို့ သားတွေ သမီးတွေ ရပြီး”ပီယာက ခပ်ပြုံးပြုံးဖြင့် မေး၏။

“မကွယ်မထောက် ပြောရရင်တော့ ကျွန်တော်တို့ ကလည်း သခင်လေးကို ဒီလိုတစ်ယောက်တည်းနေတာ မကြည့်ရက်ဘူးဗျာ။ အကောင်းဆုံးပဲ”

"ကြည့်စမ်း၊ သူတို့များတော့လည်း တယ်လွယ်ပါ့ ကလား"ဟု ပီယာ တွေးမိ၏။ "အိမ်ထောင်ခြင်း အမှုဟာ ( ဘယ့်ကလောက် ကြောက်ဖွယ်ကောင်းပြီး ဘယ့်ကလောက် အန္တရာယ်များတယ်ဆိုတာ မသိရှာဘဲကိုး။ အိမ်ထောင်ခြင်း ဆိုတာ စောသည်ဖြစ်စေ၊ နှောင်းသည်ဖြစ်စေ တယ် ကြောက်စရာကောင်းတာပဲ"

"နက်ဖြန် ခရီးထွက်ဖို့ ပြင်ရတော့မလား။ အမိန့် ရှိပါသခင်လေး" ကျွန်ယုံတော်ကြီးက မေး၏။

"နေဦးဗျို့။ ဆိုင်းထားလိုက်ဦး။ နောက်များမှ ကျုပ်ပြောမယ်။ ဒုက္ခပေးတယ်လို့တော့ မအောက်မေ့နဲ့ဗျာ" ပီယာက ဆို၏။ ကျွန်တော်ကြီး၏ အပြုံးကို မြင်သည်၌ "အိမ်း သူ့ခမျာ ငါပီတာစဘတ်ရွှေမြို့တော်ကို မသွားတဲ့ အကြောင်း မသိရှာသေးဘူး။ ဒီကိစ္စကို အရင်ရှင်းရဦး မယ်ဆိုတာ မသိသေးဘူး။ သိရင်တော့ အတော်အံ့သြသွား မှာပဲ။ အေးလေ သိရက်သားနဲ့ မသိယောင်ပြုနေတာ ဖြစ်ချင်လည်း ဖြစ်မှာပါ။ ငါ သူ့ကို ဖွင့်ပြောပြီး သူ့ထင် မြင်ချက်ကို နားထောင်ရမလား"ဟု တွေး၏။ နောက်မှ "အို နောက်မှ ပြောပါတော့မယ်လေ"ဟု စိတ်ကူးလိုက် မိသည်။

ထိုနေ့ နံနက်စာစားချိန်၌ ယမန်နေ့က မင်းသမီး လေး မေရီထံ သွားတွေ့ကြောင်းဖြင့် အစ်မတော် ဝမ်းကွဲ ပထမမင်းသမီးကြီးကို ပီယာက ပြောပြ၏။ ,

"မြို့စားကြီး ရော့စတော့ဗ်ရဲ့ သမီး နာတာရှာကို အစ်မတော် သိသလား"

ပထမ မင်းသမီးကြီးက မည်သို့မျှ ထူးခြားဟန် မပြချေ။

"သိတယ် မဟုတ်လား အစ်မတော်"

"ထိပ်ထားလေးကိုတော့ မြင်ဖူးပါရဲ့" ပထမ ' ကို  မင်းသမီးကြီးက ဖြေ၏။ "ထိပ်ထားလေးနဲ့ မြို့စားကြီး ရော့စတော့ဗ်ရဲ့ သားကြီး နီကိုလေနဲ့လဲ စေ့စပ်ကြောင်း လမ်းမလို့ဆိုပါကလား။ အေးလေ မြို့စားကြီးတို့ခမျာ အခြေပျက်အနေ

ပျက် ဖြစ်နေရှာတုန်း ထိပ်ထားလေးနဲ့ လက်ဆက်ဖြစ်တယ်ဆိုရင် အသက်ရှုချောင်သွားပေတာ ပေါ့”

“ထိပ်ထားလေးကို ပြောတာ မဟုတ်ပါဘူး အစ်မ တော်ရဲ့ ။ နာတာရှာကို သိသလားလို့ မေးတာပါ”

“သူတို့ကိစ္စကို တစ်ခါတုန်းကတော့ ကြားလိုက် ပါရဲ့။ သနားပါတယ်ကွယ်” ။

ပီယာသည် အစ်မတော် ပထမ မင်းသမီးကြီး မသိယောင်ပြု နေသလော၊ တကယ်ပင် မသိ၍လောဟု စဉ်းစားမရအောင် ဖြစ်လျက်ရှိ၏။ ထို့ကြောင့် ၎င်းကိုလည်း ဖွင့်ပြောခြင်း မပြုတော့ဟု ဆုံးဖြတ်လိုက်သည်။

ပထမ မင်းသမီးကြီးမှာလည်း ပီယာခရီးထွက်မည် ဆိုသည့်အတွက် လမ်းတွင် စားသောက်ရန် ရိက္ခာများကို ထုပ်ပိုးပြင်ဆင်လျက် ရှိလေသည်။

“အင်း အစ်မတော်ကြီးခမျာ ငါ့ကို ဂရုတော့ စိုက်ရှာပါပေတယ်။ အင်းလေ သူတို့လည်း ငါ့အတွက် သိပ်ဒုက္ခခံရတော့မှာ မဟုတ်တော့ပါဘူး။ ခု အတော အတွင်းတွင်ပါ'ဟု ပီယာတွေးပြန်၏။

ထိုနေ့၌ မော်စကို ရဲဝန်ချုပ်သည် ပီယာထံသို့ ရောက်လာကာ ကရင်မလင်နန်းတော်တွင် တွေ့ရသော ပစ္စည်းများကို ပိုင်ရှင်များသို့ပြန်ပေးမည် ဖြစ်သည့်အတွက် ကိုယ်စားလှယ် တစ်ဦးလွှတ်ရန် ပြောကြား၏။

ပီယာသည် ရဲဝန်ချုပ်မျက်နှာကို စေ့စေ့ကြည့်၍ “အင်း ဒီအဘိုးကြီးလည်း ငါ မိန်းမယူတော့မယ်ဆိုတာ သိဟန်မတူသေးဘူး။ အဘိုးကြီးဟာ သဘော ကောင်းပုံရပါရဲ့။ ဒီအသေးအဖွဲကိစ္စလေးတွေကို ဒီအချိန်မှာ လုပ်နေ ရရှာတုန်း ပဲနော်။ တချို့ကတော့လည်း အဘိုးကြီးဟာ တော်တော် လာဘ်ယူတယ်လို့ ပြောကြ

တယ်။ ဟုတ်ဟန် မတူပါဘူး။ ဟုတ်တော့ကော ဘာဖြစ်သလဲ။ သူတို့ တစ်တွေ ဟာ ဒီပတ်ဝန်းကျင်မှာ ကြီးပြင်းလာပြီး ဒီလိုပဲ လူတိုင်းလာဘ်ယူ နေကြပေတာပဲ။ သူ့ကျမှ အပြစ်ဆိုလို့ ဘယ်တရားမလဲ။ ဘယ်သူတွေ ဘာပြောပြော အဘိုးကြီး မျက်နှာဟာ သနားကြင်နာတတ်ပုံရတယ်။ ချိုတယ်။ ကြည့်စမ်း။ ငါ့ကို ပြုံးပြုံး ကြီး ကြည့်နေလိုက်တာ”

ပီယာသည် ညစာစားရန် မင်းသမီးလေးမေရီ၏ စံအိမ်တော်သို့ လာခဲ့လေ သည်။

လမ်းတစ်လျှောက်တွင် ကရထားကို မောင်းလာခဲ့ ရာ၌ မီးလောင်ကျွမ်း၍ ပျက်စီးလျက်ရှိသော အိမ်များကို မြင်ရ၏။ သာမန်အားဖြင့် အပျက်အစီးဟူသည် အနိဋ္ဌာရုံကို ဆောင်လျက်ရှိမြဲဖြစ်သော်လည်း ထိုနေ့၌ကား ဤအပျက် အစီး များသည်ပင် ထူးခြားသည့် အလှကျက်သရေကို ဆောင်လျက်ရှိခြင်းကို တွေ့သည်၌ ပီယာသည် အံ့သြ မိသေး၏။ မီးလောင်ကျွမ်းသော ရပ်ကွက်များ၌ တစ်ဝက် တစ်ပျက် ကျိုးပွဲ့နေသော မီးခိုးခေါင်းတိုင်များ၊ ပြိုကျနေ သော နံရံ များသည် တစ်ခုကိုတစ်ခု ဖုံးကွယ်၍ တဝန်း တလျားကြီး တည်ရှိနေလေရာ ၎င်း တို့သည် ပန်းချီရေး ထားသကဲ့သို့ ရှုမငြီးဖွယ်ပင်ဖြစ်၏။ ပီယာသည် ထိုရှုခင်း ကို မြင်ရသည်၌ ရိုင်းမြစ်ကမ်းနံဘေးမှ အဆောက်အအုံ များကို သတိရမိ၏။ လမ်းတွင် တွေ့ရသော ရထားသမား များ၊ ရထားစီးခရီးသည်များ၊ အိမ်ဆောက်ရန် အတွက် သစ်ရွှေ့နေကြသော လက်သမားများ၊ ဈေးသည်များ၊ ဆိုင်ရှင်များ အားလုံးသည် ၎င်း၏ ရွှင်လန်းတောက်ပသော ၊ မျက်လုံးများဖြင့် ကြည့်ကာ “ဟော သတိုးသားလာပြီဟေ့ ကြည့်ကြ၊ ကြည့်ကြ”ဆိုနေသည်ဟု ထင်မှတ်မိ၏။

မင်းသမီးလေးမေရီ၏ စံအိမ်တော်အဝင်ဝသို့ ( အရောက်တွင် မိမိသည် ယမန်နေ့က ဤစံအိမ်သို့ ရောက် ခဲ့၍ နာတာရှာနှင့် တွေ့ဆုံစကားပြောခဲ့ခြင်းမှာ

တကယ်မှ ဟုတ်ပါ၏လော၊ အိပ်မက်မက်ခြင်းများ ဖြစ်လေသလော ဟု သံသယ ဖြစ်မိသေး၏။ ငါ့ဘာသာ ငါ စိတ်ကူးနဲ့ ရှူး နေတာများလား။အထဲမှာ လူသူမှ ရှိပါ လေရဲ့လားဟုလည်း တွေးမိ၏။ သို့ရာတွင် ခန်းဆောင်ထဲသို့ ဝင်လိုက်သည်နှင့် တစ်ပြိုင်နက် နာတာရှာကို မြင်လိုက် ရ၏။ ထိုခဏတွင် မိမိ၌ရှိသော လွတ်လပ် ခြင်း ဟူသမျှသည် ပျောက်ကွယ် သွားလေပြီဟု ထင်လိုက်ရ၏။ နာတာရှာသည် ယမန်နေ့ ကကဲ့သို့ပင် ပန်းတွန့်အနားသတ် ဝတ်ရုံနက်ကို ဝတ်ဆင် ထား၏။ ဆံပင်ထုံးဖွဲ့ပုံမှာလည်း ယမန်နေ့ကကဲ့သို့ပင် ဖြစ်၏။ သို့ရာတွင် တစ်မူထူးခြား လျက် ရှိလေသည်။ ယမန်နေ့ကသာ ဤထူးခြားချက်မျိုးဖြင့် တွေ့ရလျှင် ပီယာ သည် နာတာရှာ့ကို မမှတ်မိဘဲ နေမည်မဟုတ်ချေ။

ယနေ့တွေ့ ရသော နာတာရှာသည် ငယ်စဉ်က ပီယာတွေ့ခဲ့ရသော နာတာ ရှာ၊ ထို့နောက် မင်းသားကလေး အင်ဒရေ၏ ကြင်ရာလောင်းအဖြစ် တွေ့ရသော နာတာ ရှာဖြစ်၏။ စူးစမ်းသောလက္ခဏာဖြင့် မျက်လုံးများသည် ဝင်းလက်တောက် ပလျက် ရှိကြ၏။ ၎င်း၏ မျက်နှာထား သည် နှစ်လိုဖွယ်သော အသွင်ကိုဆောင် လျက် ရှိလေသည်။

ပီယာသည် ၎င်းတို့နှင့်အတူ ညစာစားပြီးနောက် တစ်ညနေလုံးနေရန် စိတ်ကူးခဲ့၏။ သို့ရာတွင် မင်းသမီး လေးမေရီမှာ ဝတ်တက်သွားရန်ရှိသဖြင့် ပီယာ လည်း မင်းသမီးလေးမေရီနှင့်အတူ ထွက်လာခဲ့လေသည်။

နောက်တစ်နေ့၌ ပီယာသည် ခပ်စောစော ရောက် လာပြန်ကာ ၎င်းတို့နှင့် အတူ ညစာစားပြီးနောက် တစ်ည နေလုံး အချိန်ကုန်လွန်စေ၏။ မင်းသမီးလေးမေ ရီနှင့် နာတာရှာတို့သည် ပီယာအလည်လာခြင်းအတွက် များစွာ ဝမ်းမြောက်ကြ လျက် ပီယာကလည်း မိမိ၏ စိတ်အာရုံ ဟူသမျှကို ဤစံအိမ်ကြီးထဲသို့ လွှတ်ထား လေသည်။ ညနေစောင်း၌ ပြောစရာ စကားကုန်သည့်အခါ၌ ၎င်း တို့သည်

အသေးအဖွဲ့များကို ပြောကြပြန်သည်။ တစ်ခါ တစ်ခါ၌လည်း စကားပြတ်သွားကြ၏။ ပီယာကား မပြန် သေးချေ။ ပြန်ချိန်တန်၍ ပီယာ မပြန်သောအခါ မင်းသမီးလေးမေရီနှင့် နာတာရှာသည် တစ်ယောက်မျက်နှာ တစ် ယောက်ကြည့်ကြပြီး ပြန်ခဲလှချည့်ဟု တွေးလျက် ရှိကြ၏။ ဤအချက်ကို ပီယာကလည်း ရိပ်မိ၏။ သို့ရာတွင် ပီယာ မပြန်နိုင်သေးချေ။ ပီယာသည် အားနာလှသော်လည်း မပြန်ချင်လောက်အောင် ဖြစ်နေသည့်အတွက်' ထိုင်မြဲထိုင် လျက်သာရှိလေသည်။

နောက်ဆုံး၌ မိမိက စကားစဖြတ်မှ ဖြစ်တော့ မည်ဟု သိသဖြင့် မင်းသမီးလေး မေရီက ထိုင်ရာမှ တလိုက်ပြီးနောက် ခေါင်းကိုက်သည်ဟု ဆိုကာ နှုတ်ဆက်ခြင်း ပြုလေသည်။ ' “ဒါထက် မြို့စားလေး မနက်ဖြန် ရွှေမြို့တော်ကို သွားဖြစ်တယ်နော်”

“မသွားဖြစ်ဘူးခင်ဗျ”ပီယာက ခပ်သွက်သွက် ဖြေလိုက်၏။ “ဟုတ်ဟုတ်ကဲ့။ အို မ မဟုတ်ဘူးခင်ဗျ။

သော် ရွှေမြို့တော်ကိုလား။ မနက်ဖြန်၊ အလို၊ ကျွန်တော် နှုတ်တောင် မဆက်ရသေးပါကလား။ ထိပ်ထားတို့ ညီမ  တို့ မှာလိုတာရှိရင် မှာလိုက်ကြလေ။ ကျွန်တော် ဆောင် ကြဉ်းခဲ့ပါ့မယ်” ။

ပီယာက မင်းသမီးလေး မေရီ၏ရှေ့တွင် ရပ်ရင်း ပြော၏။ ပီယာ၏မျက်နှာသည် နီရဲလျက်ရှိသည်။ ပီယာ မှာ မပြန်သေးချေ။

နာတာရှာသည် ပီယာကို လက်ကမ်း၍ နှုတ်ဆက် ပြီးနောက် အပေါ်ထပ် အိပ်ခန်းဆောင်သို့ တက်သွား၏။ - မင်းသမီးလေး မေရီမှာ ထွက်ခွာသွားခြင်း မပြုသေးဘဲ လက်တင်ထိုင်ဖုံတစ်ခုပေါ်တွင် ထိုင်လိုက်ပြီးနောက် နက်ရှိုင်းတောက်ပသော မျက်လုံးကြီးများဖြင့် ပီယာကို စိုက်ကြည့်နေသည်။ ခပ်စောစောက နွမ်းနယ်ပင်ပန်းဟန် ရှိသော်လည်း ယခု ထိုပင်ပန်းနွမ်းနယ်သည့် အသွင်

သဏ္ဍာန်များ ပျောက်ကွယ်သွားကြလေပြီ။ မင်းသမီးလေး မေရီသည် သက်ပြင်း တစ်ချက်ကို ရှိုက်၏။ ပီယာနှင့် နှစ်ယောက်တည်း စိမ်ပြေနပြေ စကားပြောရန် ပိုင်းဖြတ် ထားပုံလည်း ရလေသည်။

နာတာရှာ ထွက်သွားပြီးနောက် ပီယာမှာလည်း "အိုးတိုးအမ်းတမ်း'ဖြစ်ခြင်း၊ ရှက်ကြောက်ခြင်းတို့ ပျောက် ကွယ်သွားကာ စိတ်အားထက်သန်၍ လာလေသည်။ ပီယာသည် ထိုင်ဖုံးတစ်လုံးကို မင်းသမီးလေး မေရီအနီး သို့ ရွှေ့ယူ၍ ထိုင် လိုက်၏။

"ဟုတ်တယ် ကျွန်တော် ထိပ်ထားလေးကို စကား ပြောချင်နေတာ ကြာလှ ပြီ" စကားမပြောသော်လည်း ပြောနေသကဲ့သို့ရှိသော မင်းသမီးလေး မေရီ၏ မျက်လုံး များကို ကြည့်၍ ပီယာက ပြောလိုက်၏။ "ကျွန်တော့် ကို တစ်ဆိတ် ကူညီပါဦးထိပ်ထား။ ကျွန်တော် ဘာလုပ် ရမလဲ။ မျှော်လင့်ချက်ရှိသေးသလား။ ထိပ်ထားလေးဟာ ကျွန်တော်ရဲ့ အရင်းနှီးဆုံးမိတ်ဆွေပါထိပ်ထား။ ထိပ်ထား ကူညီပြီး စဉ်းစားပေးစမ်းပါဦး။ ကျွန်တော် အားလုံးသိပါ တယ် ထိပ်ထား။ ကျွန်တော်ဟာ သူနဲ့ မထိုက်တန်ပါဘူး။ ဒီအချိန်မှာ ဒီစကားမျိုး သူ့ဖွင့်ပြောလို့ လည်း မဖြစ်ဘူး။ ကျွန်တော်သူ့ကို ညီမလေးတစ်ဦးလိုပဲ ချစ်ချင်တယ်။ ဒါပေမဲ့ ကျွန်တော် မျိုသိပ်ထားလို့မရဘူး ထိပ်ထား။ ကျွန်တော် မျိုသိပ်မထားနိုင်ဘူး"

ပီယာသည် စကားဖြတ်လိုက်၍ မျက်နှာနှင့် မျက်လုံးများကို လက်ဖြင့် ပွတ် လိုက်၏။

၊ "အေးလေ ပြောရတာတော့ ခက်သားပဲ"ပီယာက ဣဆည်လိုက် ပြီးနောက် အားယူ၍ ဆက်ပြော၏။ "ကျွန်တော်သူ့ကို ဘယ်အချိန်လောက်က စပြီး ချစ်ခဲ့ တယ် ဆိုတာတော့ မသိဘူး။ ဒါပေမဲ့ သူ့ကို ချစ်တာတော့ အမှန် ပဲ။ ကျွန်တော့် ဘဝ၊ ကျွန်တော့်တစ်သက်မှာ သူ့ တစ် ယောက်ကိုပဲ တကယ် နှစ်နှစ်ကာကာ ချစ်

ဖူးသေးတယ်။ သူမရှိရင် ကျွန်တော့်ဘဝဟာ မပြည့်စုံဘူး၊ အဓိပ္ပာယ်မရှိ ဘူးလို့လည်း ကျွန်တော်ထင်တယ်။ ခုလောလောဆယ် တော့ သူ့ကို ဖွင့်ပြောဖို့ စိတ်မကူးသေးပါဘူး။ ဒါပေမဲ့ တစ်နေ့မှာ သူနဲ့ ကျွန်တော်ဟာ အကြင်လင်မယားအဖြစ် နေထိုင်သွားမယ်လို့တော့ ကျွန်တော်စိတ်ကူးထားတယ်။ ဒီစိတ်ကူးအတိုင်း မဖြစ်မှာကို ကျွန်တော် တွေးကြောက် တယ်။ ကျွန်တော်မျှော်လင့် သလို မဖြစ်ရင်တော့ ကျွန်တော် ရင်ကွဲမှာပဲ ထိပ်ထား။ ထိပ်ထားသဘောကကော ဘယ်လို ထင်ပါသလဲ။ ကျွန်တော့်မှာ မျှော်လင့်ချက်ရှိသေးရဲ့လား။ ကျွန်တော် ဘာလုပ်ရမလဲ ထိပ်ထား။ အကြံပေးစမ်းပါဦး” ပီယာက ဆက်ပြော၏။ မင်းသမီးလေးမေရီက မည်သို့မျှ ဖြေကြားခြင်း မပြုသည့်အတွက် အားမလိုအားမရ ဖြစ်ကာ မင်းသမီးလေးမေရီ၏ လက်ကိုပင် ဆုပ်ကိုင်လိုက်မိသည်။

“ထိပ်ထားလည်း မြို့စားလေး မပြောခင်ကတည်း က စဉ်းစားနေပါတယ် မြို့စားလေး” မင်းသမီးလေး မေရီက ပြော၏။

“ထိပ်ထားလေးပြောရင်လည်း ဒီစကားတွေကိုပဲ ပြောမလို့ပါပဲ။ ဟုတ်ပါတယ်။ မြို့စားလေး ပြောတဲ့ အတိုင်း ခုအချိန်မှာ ဖွင့်ပြောဖို့ မသင့်တော်သေးဘူး ဆို တာကတော့”

မင်းသမီးလေး မေရီက ဆက်မပြောသေးဘဲ ရပ် လိုက်၏။ မင်းသမီးလေး မေရီ၏ စိတ်ကူးထဲ၌ ဤအချိန် တွင် ဖွင့်ပြောခြင်းငှာ မသင့်ဟု ယူဆကာ ထို အတိုင်း ပြောလိုက်ပြီး ဆက်မပြောသေးဘဲ ရပ်ထားလိုက်၏။ လွန်ခဲ့သည့် နှစ်ရက် အတွင်းက နာတာရှာ၏ အမူအရာ ရုတ်တရက် ပြောင်းလာခဲ့၏။ နာတာရှာသည် ဤအချိန် တွင် ဖွင့်ပြောခြင်းကြောင့် စိတ်ထိခိုက်ခြင်း မဖြစ်ရုံမျှမက ထိုစကားသည်ပင် နာတာရှာ အကြားချင်ဆုံးသော စကား ဖြစ်လေသည်။ ဤအချက်ကို

အမှတ်ရ၍ မင်းသမီးလေး မေရီက ရှေ့ဆက်မပြောဘဲ ရပ်ထားလိုက်ခြင်း ဖြစ်လေသည်။

“အေးလေ ဒီအချိန်မှာတော့ မပြောသေးဘဲ ထားတာက ပိုကောင်း ပါတယ်” မင်းသမီးလေး မေရီက ဆက်၍ပြောလိုက်၏။

“ဒါဖြင့် ကျွန်တော် ဘာလုပ်ရမလဲ ထိပ်ထား”

”ထိပ်ထား ကြည့်ပြောပါ့မယ်လေ”

မင်းသမီးလေး မေရီက ဆို၏။ “ထိပ်ထား “

ပီယာသည် မင်းသမီးလေးမေရီ၏ မျက်လုံးများကို စိုက်ကြည့်နေ၏။ ,

”ဒီလိုဆိုရင် အတိုင်းထက်အလွန်ပေါ့ ထိပ်ထား။ ပိုကောင်းတာပေါ့”

သိပါတယ်။ နာတာရှာဟာ မြို့စားလေး ကို ချစ်နေတယ်။ အဲလေ ချစ်လိမ့်မယ်လို့ ထင်ပါတယ်” ( မင်းသမီးလေး မေရီက စကားကို ပြင်ပြောလိုက်၏။

မင်းသမီးလေး မေရီ၏ စကားမဆုံးမီမှာပင် ပီယာသည် ဝမ်းသာအားရ ထလိုက်လျက် မင်းသမီးလေး မေရီ၏ လက်ကို ဖျစ်ညှစ်ဆုပ်ကိုင်ထားလိုက် မိသည်။

“ထိပ်ထားဘာကြောင့် ဒီလို ပြောနိုင်သလဲဟင်။ ဒီလိုဆို ကျွန်တော့်အဖို့ မျှော်လင့်ချက်ရှိတယ်လို့ ဆိုနိုင် တာပေါ့။ ဟုတ်လား ထိပ်ထား။ ဟင်”

“ဟုတ်ကဲ့၊ ထိပ်ထား ဒီလိုပဲ ထင်ပါတယ်” မင်းသမီးလေးမေရီက ပြုံး၍ပြော၏။ “မြို့စားလေးအနေ နဲ့သာ သူ့ မိဘများကို ကမ်းလှမ်းကြည့်ပါ။ ကျန်တဲ့ကိစ္စ ကတော့ ထိပ်ထားတာဝန်ထားပါ။ အခွင့်သာတဲ့နေ့မှာ ထိပ်ထားပြောကြည့်ပါ့မယ်။ အောင်မြင်ပါစေလို့လဲ ဆု တောင်းပါတယ်။ အောင်မြင်လိမ့်မယ်လို့လည်း ထိပ်ထား စိတ်ထဲမှာ ထင်နေပါတယ်”

“ဖြစ်တော့မဖြစ်နိုင်ဘူးထင်တယ် ထိပ်ထား။ ဖြစ် ရင်တော့ လောကကြီးမှာ ကျွန်တော်ဟာ အပျော်ဆုံး လူ တစ်ယောက်ဖြစ်မှာပဲ။ ဖြစ်ရင်တော့ ကျွန်တော့် လောက် ပျော်တဲ့လူ ကမ္ဘာမှာရှိမယ် မထင်တော့ဘူး။ ဒါပေမဲ့ မဖြစ်နိုင်တာက ခက်တယ်” ပီယာသည် ပါးစပ်မှ တဖွဖွ ပြောရင်း မင်းသမီးလေး မေရီ၏လက်ခုံကို နမ်းရှုပ်နေ၏။

“ပီတာစဘတ်ရွှေမြို့တော်ကို သွားဖို့ကိစ္စရှိရင် သွားသာသွားပါလေ။ သွားတာ အကောင်းဆုံးပဲလို့ ထိပ်ထားထင်ပါတယ်။ ဟိုရောက်တော့မှ အခြေအနေ . အရပ်ရပ်ကို ထိပ်ထား စာရေးအကြောင်းကြားလိုက်ပါ့ မယ်”မင်းသမီးလေး မေရီက ဆို၏။ '' “ဘာလဲ ထိပ်ထား၊ ကျွန်တော် ရွှေမြို့တော်ကို သွားရမလား ဟုတ်လား။ ဒီလိုဆို ကျွန်တော် သွားမယ် လေ။ ဒါပေမဲ့ မနက်ဖြန်တော့ ကျွန်တော် တစ်ခေါက် လာခဲ့ဦးမယ်ထိပ်ထား” . . ။

နောက်တစ်နေ့တွင် ပီယာသည် နှုတ်ဆက်ရန် ရောက်လာပြန်၏။ နာတာရှာမှာ ယမန်နေ့ကလောက် ရွှင်လန်းခြင်း မရှိလှချေ။ ပီယာသည် နာတာရှာကိုကြည့်ရင်း မိမိနှင့်တကွ နာတာရှာတို့နှစ်ဦး လူ့လောကကြီးမှ ပျောက်ကွယ်သွားကာ ပျော်ရွှင်ခြင်းဟူသော အရာသာ ကျန်ရစ်ခဲ့သည်ဟု စိတ်၌ ထင်မိ၏။ “သူနဲ့ငါ တကယ်မှ ဖြစ်နိုင်ပါ့မလား။ မဖြစ်နိုင်ဘူးထင်တယ်” ပီယာသည် နာတာရှာ၏အကြည့် နာတာရှာ၏ အမူအရာမှန်သမျှကို ကြည့်၍ တွေးမိ၏။

နာတာရှာ၏ သေးသွယ်ပျော့ပျောင်းသော လက် တစ်ဖက်ကိုဆွဲ၍ နှုတ်ဆက်သည့်အခါ၌ ပီယာသည် ရုတ်တရက် ပြန်မလွှတ်သေးဘဲ အတန်ကြာမျှ ဆုပ်ကိုင် ထားမိသည်။

“ဒီလက်၊ ဒီမျက်နှာ၊ ဒီမျက်လုံးနဲ့တကွ မိန်းမတို့ရဲ့ စွဲမက်ဖွယ် ကောင်းသော ရတနာမှန်သမျှဟာ ငါ့အဖို့ ထူးဆန်းနေသေးပေမဲ့ တစ်နေ့မှာ ဒီရတနာတွေကို ငါ

ပိုင် ရတော့မယ်ဆိုတာ ဟုတ်မှဟုတ်ပါ့မလား။ ဒီမျက်လုံး၊ ဒီလက်၊ ဒီမျက်နှာတွေဟာ တစ်နေ့မှာ ငါ့လက်၊ ငါ့မျက်လုံး၊ ငါ့မျက်နှာလို့ ထင်မှတ်ရလောက်အောင် နီးစပ်ရတော့ မယ်ဆိုတာ ဟုတ်မှဟုတ်ပါ့မလား။ မဖြစ်နိုင်ဘူး ထင် တယ်" ။

"ကဲ အစ်ကို သွားတော့နော်" နာတာရှာက နှုတ်ဆက်၏။ "အစ်ကို ပြန်လာမယ့်ရက်ကို နာတာရှာ မျှော်နေမယ်နော် အစ်ကို" နာတာရှာက နှစ်ကိုယ်ကြား လေသံကလေးဖြင့် ဆို၏။

နာတာရှာ၏ဤနှုတ်ခွန်းဆက် စကားလုံးလေး များနှင့်တကွ နာတာရှာ၏ အမူအရာ၊ နာတာရှာ၏ အကြည့်တို့သည် ပီယာ၏ အသည်းထဲ၌ ဖျောက်ဖျက်၍ မ ရအောင် စွဲ၍ ကျန်ရစ်ခဲ့လေသည်။ ရွှေမြို့တော်သို့ ရောက်ရှိနေသည့် နှစ်လ အတောအတွင်း ပီယာသည် ထို  စကားလုံးများနှင့်တကွ ထိုအကြည့် ထိုအမူအရာ တို့ကို တသက်သက်တွေးမိ၏။ အဓိပ္ပာယ်အမျိုးမျိုး ကောက်၏။ တစိမ့်စိမ့် အောက်မေ့၍ ကြည်နူး၏။ "အစ်ကို ပြန်လာ မဲ့ရက်ကို နာတာရှာ မျှော်နေမယ် နော်"တဲ့၊ ကြည့်စမ်း ပြောတတ်လိုက်တာ အလိမ္မာအိုးမကလေး။ "အစ်ကို ပြန်လာ မဲ့ရက်ကို မျှော်နေမယ်"တဲ့ အစ်ကို ကြည်နူးလိုက် ပါဘိ နာတာရှာရယ်။ အစ်ကို ပျော်လိုက်ပါဘိ"

# အခန်း ၁၉

ပီယာသည် ကွယ်လွန်သူ ကြင်ရာတော် ဟယ်လင်မင်းသမီး လေးကို ပိုးပန်း ခဲ့စဉ်က စိတ်သောကရောက်ခဲ့ရသော်လည်း ယခုထိုသို့ စိတ်သောကရောက်ခြင်း မ ဖြစ်ရတော့ချေ။ ယခင်အခါများကဲ့သို့ ဤစကားကို ပြောခဲ့မိလေခြင်း၊ ထိုစကားကို မပြောခဲ့မိလေခြင်း ဟူ၍လည်း နောင်တရခြင်း မဖြစ်ရတော့ချေ။ ၎င်း၏ စိတ်ထဲ၌ မိမိနှင့် နာတာရှာတို့ ပြောခဲ့ကြသည့် စကားများကိုသာ အမှတ်ရလျက်ရှိ၏။ နာ

တာရှာ၏ မျက်နှာအမူအရာများနှင့်တကွ နာတာရှာ၏ အပြုံးတို့ကို အသေးစိတ် မြင်ယောင်လျက်ရှိ၏။ ထိုအပြုံး နှင့် ထိုမျက်နှာကို မျက်စိထဲမှ အပျောက်လည်းမ ခံလို စိတ်ကူးဖြင့် နောက်ထပ်ဖြည့်စွက်၍လည်း မမြင်လို၊ သူ မြင်ခဲ့သည့် နဂို ပကတိအတိုင်းသာ မြင်လိုပေသည်။ ယခု အချိန်၌ မိမိဆုံးဖြတ်ချက်သည် မှားသည်လော၊ မှန်သည် လောဟူ၍လည်း ဒွိဟဖြစ်ခြင်း မရှိတော့ချေ။ သို့ရာတွင် “မိမိ အိပ်မက်မက်နေတာများလား၊ မင်းသမီးလေးမေရီရဲ့ ထင်မြင်ချက်များ မှား နေသလား၊ ငါဟာ ငါ့ကိုယ်ငါ သိပ် အထင်ကြီးပြီး ကိန်းသေများ တွက်ထားလွန်း သလား။ အေးလေ။ ဖြစ်တန်ကောင်းပါရဲ့။ ခုအချိန်လောက်ဆိုရင် မင်းသမီးလေး မေရီက မြို့စားကြီး ဖွင့်ပြောလိုက်မိလို့ နာတာရှာက ပြုံးနေမလား။ စိတ်ထိခိုက် နေမလား” ဟူသော သံသယကား တစ်ခါတစ်ရံ၌ ဝိုးတဝါး ပေါ်လာ တတ်၏။

ပီယာအား ဒုက္ခပေးနေသော အချက်မှာ ဤ သံသယသာ ဖြစ်၏။ ယခု အချိန်၌ ပီယာသည် ရှေ့ရေးကို လည်း များစွာ မတွေးတော့ချေ။ ပီဃာ့အဖို့ ထို ပျော်ရွှင် မှုသည် အတိုင်းအဆမရှိ ကြီးမားလှ၏။ ဤပျော်ရွှင်မှုကို  မည်သာ ဖြစ်၏။

ရရှိပါက အခြားအရာများအားလုံး မေ့ပျောက်သွားတော့ - ပီယာသည် အပျော်ကြီးပျော်လျက်ရှိ၏။ ၎င်း၏ တစ်သက်၌ ထိုသို့သော ပျော်ရွှင်ခြင်းကို ရ လိမ့်မည်ဟု တစ်ခါမျှ မထင်ခဲ့ဖူးချေ။ မိမိ၏ ဘဝအဓိပ္ပာယ်၊ ကမ္ဘာ လောကကြီး၏ ဘဝအဓိပ္ပာယ်တို့သည် မိမိက နာတာရှာကို ချစ်ခြင်းနှင့် နာတာရှာ၏ အချစ် တုံ့ပြန်မှုကို ရရှိခြင်းသာ ဖြစ်သည်ဟု ထင်မိ၏။ လူများသည် ၎င်းတို့၏ အနာဂတ် ပျော်ရွှင်ရေး၊ စိတ်ချမ်းသာရေး တစ်ခုတည်းကိုသာ အာရုံ ပြုကြသည်ဟု တစ်ခါတစ်ရံတွင် ထင်၏။ တစ်ခါတစ်ရံ တွင်လည်း လူများသည် မိမိကဲ့သို့ပင် ကျေနပ်ပျော်ရွှင်လျက် ရှိကာ အလုပ်များဟန်၊ အခြားကိစ္စများကို စိတ်ဝင်စားဟန် ပြုလျက် ထိုပျော်ရွှင်မှုကို ဖုံးကွယ်ထားကြသည်ဟု ထင်မိ ၏။ လူအများ၏

စကားလုံးများ၊ အပြုအမူများသည် မိမိ၏ ပျော်ရွှင်ခြင်းကို ကောင်းချီးသြဘာပေး လျက်ရှိ သည်ဟု ထင်မိ၏။ ပီယာ၏ ရွှင်လန်းသော အမူအရာနှင့် အပြုသည် မြင်ရ သူတိုင်းကို အံ့အားသင့်စေ၏။ ကြည်နူး စေ၏။ ထိုအပြုံးနှင့် ထိုအမူအရာတို့သည် ပီယာနှင့် ပတ်ဝန်းကျင်ရှိ လူများအကြား၌ ရှိသော လျှို့ဝှက်သည့် နားလည်မှု တစ်ရပ်ကို ဖော်ပြလျက်ရှိသည်ဟု ထင်ရ၏။ ပီယာသည် ၎င်း၏ ပျော်ရွှင်ခြင်းကို သတိမမူမိသည့် လူ များကို တွေ့သည့်အခါ၌ ၎င်းတို့ကို သနား၏။ ၎င်းတို့ သည် အသေးအဖွဲကလေးများကို အာရုံစိုက်လျက် ရှိကြ ကြောင်းကို ရှင်းပြကာ မိမိကဲ့သို့ ပင် ပျော်ရွှင်ကြည်နူး စေလို၏။

တစ်ခါတစ်ရံတွင် ပီယာ၏မိတ်ဆွေများက မင်းမှု ထမ်းရန် အကြံပေးကြ၏။ သို့မဟုတ်လျှင်လည်း ပြောရ လျှင် တိုင်းပြည်ကြီး ပျက်တော့မလောက် တိုင်းရေး ပြည် ရေး၊ နိုင်ငံရေးကိစ္စများကို ပီယာရှေ့တွင် ပြောကြ၏။ ထိုအခါ၌ ပီယာသည် သနားစရာ သတ္တဝါများသာတကား ဟူသော အပြုံးဖြင့် နားထောင်ကာ ထူး ထူးဆန်းဆန်း မှတ်ချက်ချတတ်လေသည်။ သို့ရာတွင် ယခုတစ်ကြိမ်၌ မူကား ပီ ယာသည် မြင်မြင်သမျှ လူတိုင်း (ယခု မိမိ ခံစားနေရသကဲ့သို့ တကယ့်ဘဝ၏ အဓိပ္ပာယ်အနှစ်သာရ ကို သိသူများရော မသိရှာကြသူများပါ)သည်မိမိကဲ့သို့ ကြည်နူးခြင်း၏ အရသာကို ခံစားနေရသည်ဟု ထင်မိ၏။ မြင်မြင်သမျှ လူတိုင်း သည် ကောင်းမွန်ခြင်းနှင့် ပြည့်စုံ သည်ဟု ထင်၏။ ချစ်ခင်နှစ်လိုဖွယ်ကောင်းခြင်း ရှိသည် ဟု ထင်၏။

ကွယ်လွန်သူ ကြင်ရာတော် ဟယ်လင်မင်းသမီး လေး၏ စာချုပ်စာတမ်း များ၊ ကြွေးမြီကိစ္စများကို စာရင်း ရှင်းသောအခါ၌လည်း ပီယာ၌ သနားကရုဏာ သက်ခြင်း မှအပ အခြားမည်သည့်စိတ်မျိုးမှ မဖြစ်ပေါ်တော့ချေ။ ကွယ်လွန်သူ ကြင်ရာတော်သည် မိမိကဲ့သို့ စိတ်၏ချမ်း သာသုခကို သိမသွားရလေခြင်းဟုသာ

သနားမိတော့ သည်။ ယောက္ခမဖြစ်သူ မင်းသားကြီး ဗာစီလီမှာ ရာထူး သစ်ရကာ ဆုတံဆိပ်တော်များ ထပ်မံချီးမြှင့်ခြင်း ခံရသည့် အတွက် သွေးနားထင်ရောက် လျက်ရှိရာ ပီယာသည် ၎င်း ကိုကြည့်၍လည်း သနားမိသည်။

ပီယာသည် ဤမျှ မိုးမမြင် လေမမြင် ဖြစ်နေသော ပျော်ရွှင်ခြင်းမျိုးကို နောင်ဘဝရောက်သည်အထိ မေ့ပျောက် နိုင်လိမ့်မည် မထင်ချေ။ ထိုအချိန်တွင် ဖြစ်ပေါ်သည့် ပီယာ၏ အတွေးများသည် ၎င်းအဖို့ အမြဲမှန်ကန်နေ လိမ့်မည်သာ ဖြစ်၏။ ပီယာသည် ထိုအချိန်က ဖြစ်ပေါ်သော အတွေးအမြင်များကို စွန့်လွှတ်ခြင်း မပြုရုံမျှသာမက တစ်စုံတစ်ခုကို မှန်မမှန် သံသယဖြစ်လာလျှင် သို့မဟုတ် မှန်မ မှန် ဝေခွဲမရ ဖြစ်လာလျှင် ထိုစဉ်က ဖြစ်ပေါ်ခဲ့သော အတွေးများ အယူအဆများကို စံထား၍ ချိန်ကိုက်ညှိနှိုင်း ကြည့်၏။ ထိုသို့ စံချိန်ကိုက်၍ ညှိတိုင်းလည်း ထိုအတွေး များသည် မှန်ကြောင်းကို တွေ့မည်သာ ဖြစ်သည်။

"သူတို့အမြင်မှာတော့ ငါဟာ လူထူးလူဆန်းတစ် ယောက် ဖြစ်နေမှာပဲ"ဟု ပီယာတွေး၏။ "ဒါပေမဲ့ ငါ ဟာ သူတို့ထင်သလို စိတ်ရူးပေါက်နေတဲ့ လူတစ် ယောက် မဟုတ်ဘူး။ ခုအချိန်မှာ ငါ့အတွေးတွေ၊ ငါ့အသိဉာဏ်တွေ ဟာ ခါတိုင်း ထက် ပိုပြီးတောင် ထက်မြက်လို့ နေသေး တယ်။ ငါဟာ လူ့ဘဝကြီးမှာ နားလည် သဘောပေါက် သင့်တဲ့ အရာမှန်သမျှကို နားလည်သဘောပေါက်တယ်။ ဘာ ကြောင့်လဲ။ တခြားကြောင့် မဟုတ်ဘူး။ ငါဟာ ပျော် ရွှင်ခြင်းကို ရနေလို့ပဲ"

ယခင်အခါကဆိုလျှင် ပီယာသည် လူတစ်ယောက် ကို ချစ်ခင်ခြင်း မပြုမီ ထို လူ၏ အရည်အချင်းကောင်း များကို ရှာဖွေလေ့ရှိ၏။ ယခု ထိုသို့ စောင့်ဆိုင်းရှာဖွေ ခြင်း  မပြုတော့ချေ။ ယခုအချိန်၌ ပီယာ၏ နှလုံးသားသည် ချစ်ခြင်းမေတ္တာဖြင့် ပြည့်လျှမ်းလျက်ရှိကာ လူများအား အကြောင်းမဲ့ ချစ်ခင်နှစ်သက်ခြင်း ဖြစ်

တတ်၏။ ထိုသို့ အကြောင်းမရှိ ချစ်ခင်ခြင်းသည်ပင် ၎င်းတို့ကို ချစ်ခင် ခြင်း၏ မူလအကြောင်းတရားစစ်ကြီး ဖြစ်တော့သည်ဟု ယူဆလျက် ရှိလေသည်။

## အခန်း ၂၀

ပီယာ လာရောက်လည်ပတ်သည့်နေ့က နာတာရှာသည် ပီယာပြန်သွားလျှင် ပြန်သွားချင်း နောက်ရွတ်ရွတ် ပြုံးလျက် “အစ်ကို့ကို ကြည့်ရတာ တော်တော် သပ်ရပ်လာတယ်နော်။ ဝတ်ရုံအင်္ကျီတိုနဲ့ ဆံပင်ကိုလည်း အကျဖြီးလို့။ ရေနွေးစိမ် ပြီး ကိုယ်လက်သန့်စင်လာသလိုပဲ”ဟု ပြောခဲ့၏။ ထိုသို့ပြော ပြီးသည့် တစ်ခဏ၌ နာတာရှာ၏ ရင်ထဲတွင် နာတာရှာ မသိအောင် တိတ်တဆိတ် ပုန်းကွယ်လျက်ရှိ သော အရာ တစ်ခုသည် ဘွားခနဲ ပေါ်လာခဲ့လေသည်။

နာတာရှာ၏ မျက်နှာ၊ လမ်းလျှောက်ပုံ၊ အမူအရာ၊ အသံ စသည်အရာ အားလုံးတို့သည် တစ်မုဟုတ်ချင်း ပြောင်းသွားကြလေသည်။ ရှင်သန်ခြင်း၏ တန်ခိုးသတ္တိနှင့် ပျော်ရွှင်ခြင်းအတွက် မျှော်လင့်ချက်တို့သည် မျက်နှာပြင် ထက်သို့ တက်လာကြလေသည်။ ထိုနေ့ညနေမှစ၍ နာတာ ရှာသည် အတိတ်က အဖြစ်အပျက်များကို မေ့ပျောက်ပစ် လိုက်ပုံရလေသည်။ နာတာရှာသည် ယခင်က ကဲ့သို့လည်း မိမိကိုယ်ကို မိမိစိတ်ပျက်ခြင်း မဖြစ်။ အတိတ်အကြောင်း ကိုလည်း တစ်ခွန်းမျှမဟ၊ ရှေ့တွင် ပျော်အောင် မည် သို့ နေထိုင်ရမည်ဟုလည်း ကြံစည် စိတ်ကူးခြင်း မပြုတော့ ချေ။ နာတာရှာသည် ပီယာအကြောင်းကို ပြောလေ့မရှိ သော်လည်း မင်းသမီးလေးမေရီက စကားစလာလျှင်ကား ကြာမြင့်စွာက ငြိမ်းခဲ့ပြီး ဖြစ်သော အလင်းရောင်တစ်ခုသည် မျက်လုံးများထဲတွင် ပြန်လည်တောက်ပလာ ကြကာ နှုတ် ခမ်းကလေး၌လည်း ပြုံးရိပ်သန်းလျက်ရှိ၏။

မင်းသမီးလေး မေရီသည် နာတာရှာ၏ ပြောင်းလဲ ခြင်းကြောင့် အံ့အားသင့်မိသေး၏။ သို့ရာတွင် ပြောင်းလဲ ခြင်း၏ အကြောင်းကို ရိပ်စားမိသည့်အခါ၌ကား ပူဆွေး ခြင်း ဖြစ်ရလေသည်။ "နာတာရှာဟာ မောင်တော်လေးကို မချစ်လို့ ဒီလောက် မေ့လွယ်ပျောက်လွယ်ဖြစ်တာ ထင်ပါ ရဲ့"ဟု တွေးမိ၏။ သို့ရာတွင် နာတာရှာကို မြင်လိုက်သည့် အခါ၌မူ မင်းသမီးလေး မေရီသည် ဤသို့ ဒွိဟဖြစ်ခြင်း မရှိတော့ချေ။ နာတာရှာကိုလည်း အပြစ်မတင်တော့ချေ။ နာတာရှာတွင် ဖြစ်ပေါ်လျက်ရှိသည့် ရှင်သန်နိုးကြားသော တန်ခိုးသတ္တိသည် များစွာ အရှိန်ပြင်းထန်ရကား မင်းသမီး လေးမေရီသည် နာတာရှာ့အပေါ်၌ စိတ်ထဲမှပင် အပြစ် မတင်ရက်တော့ချေ။

နာတာရှာကလည်း ယခင်ကကဲ့သို့ ပူဆွေးခြင်း မရှိ၊ ရွှင်လန်းကြည်လင်လျက်ရှိသည်ဟူသော သဘောကို ဖုံးကွယ်ခြင်း မပြုချေ။ ထိုမျှမက ထိုခံစားချက်ကို အစွမ်း ကုန် လွှတ်ပေးထားလိုက်လေသည်။

မင်းသမီးလေး မေရီသည် ပီယာနှင့် စကားပြော ပြီးနောက် အိပ်ခန်းဆောင်သို့ ပြန်လာခဲ့ရာ ခန်းဆောင်ဝ တွင် နာတာရှာနှင့် တွေ့ရ၏။

"ဘာလဲ ထိပ်ထား၊ သူက ဖွင့်ပြောတယ် ဟုတ် လား ထိပ်ထား။ ဖွင့်ပြောသလား" နာတာရှာသည် အထပ်ထပ် မေး၏။ နာတာရှာ၏မျက်နှာပေါ်၌ ကြည်နူးခြင်း၏ အရိပ်သည် ထင်လာ၏။ သို့ရာတွင် ထိုသို့ကြည် နူးခြင်းကြောင့် မိမိအားခွင့်လွှတ်ရန် အသနားခံသော အမူအရာကလေးလည်း စွက်လျက် ရှိလေသည်။

"နာတာရှာ တံခါးဝက ချောင်းပြီး နားထောင်မလို့ တော့ စိတ်ကူးမိသား။ ဒါပေမဲ့ အစ်မတော် ထိပ်ထား ပြောပြမှာပဲလေဆိုပြီး အပေါ်ထပ်ကို တက်လာခဲ့တာ"

မင်းသမီးလေး မေရီသည် နာတာရှာ၏ ကြည်လင် ရွှင်ပျလျက်ရှိခြင်းကို နားလည်နိုင်သော်လည်း ထိုအမူအရာ ကို ကြည့်၍ စိတ်မကောင်း ဖြစ်မိ၏။ နာတာရှာ၏ စကားများသည် နာကျင်ခြင်းကို ဖြစ်စေ၏။ မင်းသမီးလေး မေရီသည် မောင်တော် မင်းသားလေးကို အမှတ်ရ၏။ မင်းသားကလေး အင်ဒရေက နာတာရှာအား အသည်းနှင့် အောင် ချစ်ခဲ့ပုံကို တွေးမိ၏။

"အေးလေ၊ သေတဲ့လူက သေပြီပဲ။ သူ့ခမျာလည်း အချစ်ကို တောင့်တ ရှာပေမပေါ့"ဟု မင်းသမီးလေးမေရီ တွေးမိသည်။

မင်းသမီးလေး မေရီသည် ဝမ်းနည်းသော အမူအရာ၊ ပြုံးရယ်ခြင်းမရှိ တည်ကြည်သော မျက်နှာထား စစ်နှင့် ငြိမ်းချမ်းရေး ဖြင့် ပီယာ၏စကားများကို ပြန်၍ပြောပြ၏။ ပီတာစဘတ် ရွှေမြို့တော်သို့ ပီယာသွားမည်ဟု ကြားရသောအခါတွင် နာတာရှာသည် အံ့အားသင့်သွား၏။

"ရွှေမြို့တော်ကို သွားမလို့တဲ့ ဟုတ်လား အစ်မ တော် ထိပ်ထား" နာတာရှာသည် နားမလည်နိုင်သကဲ့သို့ လိုက်၍ ရွတ်ဆိုမိ၏။

သို့ရာတွင် မင်းသမီးလေးမေရီ၏ ပူဆွေးကြေကွဲ ဟန်ရှိသော မျက်နှာကို မြင်လိုက်သည့်အခါ၌ နာတာရှာ သည် ပူဆွေးရခြင်းအကြောင်းကို ရိပ်စားမိသဖြင့် ချုံးပွဲချ၍ ငိုမိ၏။

"အစ်မတော် ထိပ်ထား" နာတာရှာက ခေါ်၏။ "ညီမ ဘာလုပ်ရမလဲ ပြောပါဦး အစ်မတော်ထိပ်ထားရယ်။ ညီမ ဘာလုပ်ရမလဲ။ ညီမဟာ မိန်းမဆိုး မိန်းမရိုင်း တစ် ယောက် မဖြစ်ချင်ဘူး အစ်မတော်။ ဒီတော့ ညီမ ဘာ လုပ်ရမလဲ ဆိုတာကို သာ အစ်မတော်က ပြောပါ။ အစ်မ တော် ပြောတဲ့အတိုင်း လုပ်ပါ့မယ်။ ညီမ ဘာ လုပ်ရမလဲ။ ဟင် အစ်မတော်ထိပ်ထား ပြောပါဦး"

“ညီမ သူ့ကို ချစ်တယ်မဟုတ်လား”

“ချစ်တယ် အစ်မတော်” နာတာရှာက ခပ်တိုးတိုး ပြော၏။

“ဒါဖြင့်လည်း ဘာဖြစ်လို့ ငိုနေရသေးသလဲ ညီမရယ်။ အစ်မတော်တောင် ကြားထဲက ညီမအတွက် ဝမ်းသာမိသေးတယ် မင်းသမီးလေး မေရီကဆို၏။ မင်းသမီးလေး မေရီသည် နာတာရှာ၏ မျက်ရည်များကို မြင်ရသည်၌ နာတာရှာ၏ ကြည်လင်ရွှင်ပျခြင်း ဟူသမျှတို့ ကို လုံးဝ ခွင့်လွှတ်လိုက်လေပြီ။

“ခု ဝမ်းသာဖို့ မဟုတ်သေးပါဘူး ထိပ်ထားရယ်။ နောက်တစ်နေ့ကျမှ ဝမ်းသာရမှာပါ။ နာတာရှာက သူ့ဇနီး အဖြစ်နေ၊ အစ်မတော် ထိပ်ထားက ကိုကိုနဲ့ လက်ထပ် အဲဒီအခါကျရင်တော့ သိပ်ပျော်စရာကောင်းမှာပဲနော် အစ်မတော် ထိပ်ထား”

“နာတာရှာ၊ အစ်မတော်ကို ဒီလို မစားနဲ့ကွယ်။ အစ်မတော် ပြောထားသားနဲ့ နာတာရှာတို့အကြောင်းကိုပဲ ပြောကြရအောင်ပါ”

၎င်းတို့နှစ်ဦးသည် တိတ်ဆိတ်နေကြ၏။ . “နေစမ်းပါဦး ထိပ်ထားရဲ့။ ဒီ အစ်ကိုက ဘာဖြစ်လို့ ရွှေမြို့တော်ကြီးကို သွားရဦးမှာတဲ့လဲ” နာတာရှာက လွှတ် ခန် မေးလိုက်ပြီးနောက် သူ့ဘာသာသူ ပြန်ဖြေလိုက်သည်။ “အို အို ယောင်လို့ပါ လေ။ နာတာရှာနဲ့ ဘာဆိုင်တာမှတ် လို့။ သူသွားတာပဲ ကောင်းပါတယ်နော် ထိပ်ထား။ သူ သွားတာပဲ ကောင်းပါတယ်”

# ဒုတိယတွဲ နိဂုံး

## အခန်း ၁

ရာဇဝင်ဟူသည် လူမျိုးများနှင့် လူ့လောကကြီး တစ်ခု လုံး၏ဘဝကို ခေါ်ဆိုခြင်း ဖြစ်သည်။ လူ့လောကကြီး ၏ဘဝ သို့မဟုတ် လူမျိုးတစ်မျိုး၏ဘဝကို စာဖြင့် အပြည့် အစုံ ရေးသားဖော်ပြခြင်းပြုရန်မှာ ဖြစ်နိုင်ဖွယ်မရှိဟုထင် ရပေသည်။

ရှေးဟောင်း ရာဇဝင်ဆရာများသည် ဤသို့ စာဖြင့် ရေးသားဖော်ပြရန် ခက်ခဲသည်ဟု ထင်ရသော လူမျိုးတစ် မျိုး၏ ဘဝကို ရေးသားဖော်ပြခဲ့ကြရာ၌ တစ်ခုတည်းသော နည်းလမ်းကို အသုံးပြုခဲ့ကြသည်။ ယင်းတို့က ပြည်သူ များကိုအုပ်စိုးသော လူပုဂ္ဂိုလ်များ၏ ဆောင်ရွက်ချက်များ ကို အသေးစိတ် ရေးသားဖော်ပြကြပြီးနောက် ဤသည်တို့ ကား လူမျိုးတစ်မျိုးလုံး၏ ဘဝပင်ဖြစ်သည်ဟု မိန့်ဆိုခဲ့ ကြသည်။

ဤတွင် အမေးပုစ္ဆာ ပေါ်ပေါက်လာခဲ့သည်။အုပ်စိုး သူ လူပုဂ္ဂိုလ်များ၏ ဆောင်ရွက်ချက်များသည် မည်သည့် အတွက်ကြောင့် လူမျိုးတစ်မျိုးလုံး၏ ဆောင်ရွက်ချက်များ ကို ကိုယ်စားပြုသည်ဟု ယူဆရသနည်း။ အုပ်စိုးသူ လူပုဂ္ဂိုလ်တစ်စု၏ ဆန္ဒကို ပြည်သူများက မည်သည့်အတွက် ကြောင့် လိုက်နာခြင်းပြုကြသနည်း။ ထိုအုပ်စိုးသူ လူပုဂ္ဂိုလ် တစ်စု၏ ဆန္ဒကိုလည်း မည်သည့်အရာက ဦးဆောင် လမ်းညွှန်ခြင်းပြုသနည်း။

ပြည်သူလူထုများသည် အုပ်စိုးသူ လူပုဂ္ဂိုလ်တစ်စု ၏ ဆန္ဒကို ဘုရားသခင်၏ စေခိုင်းချက်အရ လိုက်နာကြ ရသည်။ အုပ်စိုးသူ လူပုဂ္ဂိုလ်များ၏ ဆန္ဒကိုလည်း

ဘုရားသခင်က လမ်းညွှန်ခြင်း ပြတော်မူသည်ဟု ၎င်းတို့က ဖြေဆိုကြလေသည်။
 ဤသို့ဖြင့် ရှေးဟောင်းရာဇဝင်ဆရာများသည် လောကီလူမှုကိစ္စများတွင် ဘုရားသခင် ကိုယ်တော်တိုင် ဝင်ရောက်စွက်ဖက်လျက် ရှိသည်ဟူသော အယူအဆကို အခြေခံ၍ အထက်ပါ အမေးပုစ္ဆာကို ဖြေဆိုခြင်း ပြုကြလေ သည်။

သို့ရာတွင် ခေတ်သစ်ရာဇဝင်သည် အယူအဆကို မူအားဖြင့် လက်မခံချေ။ လောကီကိစ္စများ၌ ဘုရားသခင် ကိုယ်တော်တိုင် ဝင်ရောက်စွက်ဖက်လျက်ရှိ၍ ဤသို့ဖြင့် ပြည်သူများသည် ဘုရားသခင်၏ စေခိုင်းချက်အရ အုပ်စိုး သူ လူပုဂ္ဂိုလ် တစ်ဦး၏ဆန္ဒကို လိုက်နာရသည်ဟူသော ရှေးဟောင်းရာဇဝင်သဘောတရားကို၊ ခေတ်သစ်ရာဇဝင် သဘောတရားကို ခေတ်သစ်ရာဇဝင်က ယုံကြည်ခြင်း မပြုဟု ဆိုလျှင် မည်သို့ ယုံကြည်သနည်း။ ခေတ်သစ်ရာဇဝင် သည် တန်ခိုးအာဏာ ဟူသောအရာကို အပေါ်ယံမျှသာ လေ့လာခြင်း မပြုဘဲ အတွင်းကျကျ လေ့လာခြင်း ပြုပေ လိမ့်မည်ဟု ထင်ဖွယ်ရှိ၏။ သို့ရာတွင် ခေတ်သစ်ရာဇဝင် သည် ဤသို့လည်း အသစ်ထွင်၍ စူးစမ်းရှာဖွေခြင်း မပြုခဲ့။ ခေတ်သစ်ရာဇဝင်သိပ္ပံပညာသည် ရှေးဟောင်းရာဇ ဝင် အယူအဆကို မူအားဖြင့် ပစ်ပယ်သည်ဆိုသော်လည်း လက်တွေ့၌ကား ထိုသဘောတရားအတိုင်း လိုက်နာကျင့် သုံးလျက် ရှိလေသည်။

စင်စစ်၌ ရှေးဟောင်း ရာဇဝင်သိပ္ပံပညာနှင့် ခေတ် သစ် ရာဇဝင်သိပ္ပံပညာတို့သည် ကွဲပြားသည်ဟု ဆိုသော် လည်း သဘောမှာ အတူတူပင် ဖြစ်လေသည်။ ရှေးဟောင်း ရာဇဝင်သိပ္ပံပညာက ဘုရားသခင်က ပြဋ္ဌာန်းသည့် အခွင့် အာဏာများကို ပိုင်ဆိုင်သည့် အုပ်စိုးသူများကို ဖန်တီးပေး ခဲ့၍ ခေတ်သစ်ရာဇဝင် သိပ္ပံပညာက လူတို့တွင် မရရှိ နိုင်သော အရည်အချင်းများနှင့် ပြည့်စုံသည့် လူစွမ်းကောင်း များ၊ ဘုရင်ဧကရာဇ်များ၊ သတင်းစာဆရာ၊ ပညာရှိများ ကို ဖန်တီးပေးခဲ့ကာ ဤသူတို့ကား ပြည်သူလူထုကို လှုပ်ရှားစေနိုင်သူများ ဖြစ်သည်ဟု ဆိုခဲ့လေသည်။ ဘာခြားနားသေးသနည်း။ ရှေးဟောင်းရာဇဝင် သိပ္ပံပညာက ရေဂတီလူမျိုး၊ ရောမလူမျိုး

စသည်တို့၏ ဘုရားသခင် အလိုတော်ကျဖြစ်သော ရည်ရွယ်ချက်များကြောင့် လူ့လော ကကြီး တိုးတက်လာခဲ့သည်ဟု ဆို၏။ ခေတ်သစ် ရာဇဝင် သိပ္ပံပညာက ပြင်သစ်လူမျိုး၊ ဂျာမန်လူမျိုး၊ အင်္ဂလိပ်လူမျိုး စသည်တို့၏ သာယာဝပြောရေး ရည်ရွယ်ချက်များကြောင့် လူ့လောကကြီး ဖြစ်ပေါ်တိုးတက်လာရသည်ဟု ဆိုလေသည်။ ဘာခြားနားသေးသနည်း။ စင်စစ်၌ကား ၎င်းတို့ပြော သော ရည်ရွယ်ချက်များသည် လူ့လောကကြီးတစ်ခုလုံး၏ တိုးတက်ရေးအတွက် မဟုတ်ချေ။ ဥရောပတိုက်တည်း ဟူသော ပထဝီတိုက်ကြီး တစ်တိုက်၏ အနောက်မြောက်ထောင့်ရှိ လူမျိုးအချို့၏ တိုးတက်ရေးသာ ဖြစ်လေသည်။

သို့ဖြစ်ရကား ပြည်သူများ မည်သည့်အတွက် ကြောင့် လှုပ်ရှားရသည်၊ တန်ခိုးအာဏာဆိုသော အရာ သည် မည်သည့်အရာဖြစ်သည် ဆိုသည့်ပြဿနာများ၌ ခေတ်သစ်ရာဇဝင် သိပ္ပံပညာသည် ရှေးဟောင်းရာဇဝင် သိပ္ပံပညာ၏ သဘောတရားဟောင်း၊ အယူအဆဟောင်း များကို ငြင်းပယ်သည်ဟုဆိုသော်လည်း သဘောတရား သစ်၊ အယူအဆသစ်ကို အစားမထိုးနိုင်ခဲ့ချေ။ ဤသို့ တစ်ဖက်က အယူအဆဟောင်းကိုလည်း လက်မခံ၊ တစ် ဖက်က အယူအဆသစ်ကိုလည်း အစားမထိုးတတ်သည့် အခါ၌ကား ခေတ်သစ်ရာဇဝင် သိပ္ပံပညာအဖို့ “ဘူတာ ဟောင်းသို့” တခြားလမ်းဖြင့် ပြန်သွားရန်မှတစ်ပါး အခြား နည်း မရှိတော့ချေ။ တစ်နည်းကား (၁) ပြည်သူလူထုများ ကို တစ်ဦးချင်းပုဂ္ဂိုလ်များက ခေါင်းဆောင်လမ်းညွှန်ခြင်း ပြုသည်။ (၂) လူမျိုးများနှင့် လူ့လောကကြီးတစ်ခုလုံး သည် ကျွန်ုပ်တို့ သိနိုင်မြင်နိုင်သော ရည်ရွယ်ချက်ပန်းတိုင် တစ်ခုသို့ ချီတက်လျက်ရှိသည် ဟူသော အချက်ကို အသိ အမှတ်ပြုရန်မှတစ်ပါး တခြားနည်း မရှိတော့ချေ။

ဤသို့ဖြင့် ခေတ်သစ်ရာဇဝင်ဆရာများသည် ရှေး ဟောင်း ရာဇဝင်ဆရာများနှင့် တွေးခေါ်မှု ပုံသဏ္ဍာန်သာ  ခြားနားကြသော်လည်း အနှစ်သာရမှုကား အတူတူပင် ဖြစ်လျက်ရှိလေသည်။

ရာဇဝင်ဆရာကြီး ဂစ်ဘွန်အစ၊ ဘတ်ကယ် အဆုံး ရှိသော ခေတ်သစ်ရာဇဝင် ဆရာများ၏ ရာဇဝင်ကျမ်းများ အားလုံးသည် အပေါ်ယံအားဖြင့် ကြည့်လျှင် ရှေးဟောင်း ရာဇဝင်ကျမ်းများနှင့် နှိုင်းယှဉ်လျှင် ကွဲပြားခြားနား သယောင်၊ ဆန်း သစ်သယောင် ရှိသော်လည်း အခြေခံ၌ ကား လွှဲရှောင်မရသော ဖော်ပြပါ အယူ အဆဟောင်း နှစ်ချက်ပေါ်၌သာ အမှီပြုလျက်ရှိသည်။

ပထမအချက်အားဖြင့် ရာဇဝင်ဆရာများသည် လူ့လောကကြီးကို ဦးစီး ဦးဆောင် ပြုလျက်ရှိသူများဟု ၎င်းတို့က ယူဆထားသော တစ်ဦးချင်းပုဂ္ဂိုလ်များ၏ ဆောင်ရွက်ချက်များကို ဖော်ပြကြလေသည်။ (ဤနေရာ ၌လည်း မည်သည့်ပုဂ္ဂိုလ် မျိုးသည် လူ့လောကကြီးကို ဦးစီးဦးဆောင်ပြုသူ ဖြစ်သည်ဆိုသည့်ကိစ္စ၌ ရာဇဝင် ဆရာ တို့က လူ့လောကကြီးကို ဦးစီးဦးဆောင် ပြုသူများမှာ ဘုရင်ဧကရာဇ်များ၊ စစ်ဗိုလ်ချုပ်များနှင့် ဝန်ကြီးများ စသည့် ပုဂ္ဂိုလ်များ ဖြစ်ကြသည်ဟု ဆိုကြ၍ အချို့ ကမူ အပြောအဟောကောင်းသူများ၊ စစ်ဗိုလ်ချုပ်များနှင့် ဝန်ကြီး များ စသည့် ပုဂ္ဂိုလ်များ ဖြစ်ကြသည်ဟု ဆိုကြ၍ အချို့ကမူ အပြောအဟောကောင်းသူများ၊ ပညာရှိ သုခမိန်များ၊ နိုင်ငံရေးခေါင်းဆောင်များ၊ အဘိဓမ္မာပညာရှင်များ၊ ကဗျာ ဆရာများ စသည့်ပုဂ္ဂိုလ်မျိုး ဖြစ်ကြသည်ဟုဆိုကြ၏။) ဒုတိယအချက်အားဖြင့် လူ့လောကကြီးသည် မည်သည့် ပန်းတိုင်သို့ ရှေ့ရှုချီတက်လျက်ရှိသည်ဆိုသည့် အချက် ကိုလည်း ၎င်းတို့သိသည်ဟု ရာဇဝင်ဆရာများသည် တစ်ယောက်တစ်မျိုး ပြောလျက်ရှိကြသည်။ အချို့က လူ့လောကကြီး ရှေ့ရှုချီတက်လျက်ရှိသည့် ပန်းတိုင်သည် အခြားမဟုတ်။ ရောမလူမျိုးတို့ အထွတ်အထိပ်သို့ ရောက် ရေး ဖြစ်သည်ဟုဆိုကြ၍ အချို့ကလည်း စပိန်လူမျိုးတို့ အထွတ်အထိပ်သို့ ရောက်ရေး ဟုလည်းကောင်း၊ ပြင်သစ် လူမျိုးတို့ အထွတ်အထိပ်သို့ ရောက်ရေးဟု လည်းကောင်း ဆိုကြ၏။ အချို့ကလည်း ထိုအရာများမဟုတ်။ လူလူချင်း တန်းတူ ညီမျှခွင့်ရရှိရေး၊ လူသားအားလုံး လွတ်လပ်ခွင့် ရရှိရေးနှင့် ဥရောပတိုက်ဟုခေါ်

သော ကမ္ဘာကြီး၏ ထောင့် ကလေးတစ်ထောင့်မှ ယဉ်ကျေးမှုသစ်တစ်ခု တိုးတက်ဖွံ့ဖြိုးရေးဖြစ်သည်ဟု ဆိုကြပြန်သည်။

၁၇၈၉ - ခုနှစ်တွင် ပါရီမြို့တော်၌ ထကြွလှုပ်ရှား " မှုကြီးတစ်ခု ဖြစ်ပေါ်လာခဲ့လေသည်။ ထိုထကြွလှုပ်ရှားမှု ကြီးသည် ကြီးထွားပြန့်ပွားလာခဲ့ကာ အနောက်မှ လူများ အရှေ့သို့ချီတက်သော လှုပ်ရှားမှုကြီး" တစ်ခုအဖြစ်သို့ ရောက်လာခဲ့သည်။ ထိုထကြွ "လှုပ်ရှားမှုကြီး"သည် အကြိမ် ပေါင်းများစွာ အရှေ့ဘက်သို့ ရွေ့လျားလာခဲ့ပြီးနောက် အရှေ့မှအနောက်သို့ ရွေ့လျားလာသော တုံ့ပြန်လှုပ်ရှား မှုကြီး"နှင့် ထိပ်တိုက် တိုက်မိခဲ့သည်။ ၁၈၁၂- ခုနှစ်၌ အနောက်မှ အရှေ့သို့ ရွေ့လျားလာသော "လှုပ်ရှားမှုကြီး" သည် ၎င်း၏ အဆုံးစွန်သော ပန်းတိုင်ဖြစ်သည့် မော်စကိုမြို့ သို့ ရောက်လာခဲ့၏။ ထိုနောက်၌ကား အရှေ့မှ အနောက် သို့ ရွေ့လျားသော တုံ့ပြန်လှုပ်ရှားမှုကြီး" ပေါ်ပေါက်လာ ခဲ့လေသည်။ အရှေ့မှအနောက်သို့ ရွေ့လျားသော "တုံ့ပြန် လှုပ်ရှားမှုကြီး"ကဲ့သို့ပင် အတိုင်းအတာပမာဏ ကြီးထွား ၏။ အချိုးအစား တူညီ၏။ အနောက်မှ အရှေ့သို့ ရွေ့ လျားလာသော "လှုပ်ရှားမှုကြီး"သည်လည်း ဥရောပ အလယ်ပိုင်းမှ လူမျိုးများကို စုရုံးခေါ်ငင်လာသကဲ့သို့ အရှေ့မှအနောက်သို့ ရွေ့လျားလာသော "တုံ့ပြန်လှုပ်ရှားမှု ကြီး"သည် ပထမ "လှုပ်ရှားမှုကြီး" ပေါ်ပေါက်ခဲ့ရာ ဖြစ် သော အနောက်ဘက်ရှိ ပါရီမြို့တော်သို့ ရောက်ရှိသွားခဲ့ ပြီး နောက် ပြန်၍ ဆုတ်လာခဲ့လေသည်။

ဤသို့ဖြင့် အနောက်မှ အရှေ့သို့ ရွေ့လျားသော "လှုပ်ရှားမှုကြီး"နှင့် အရှေ့မှ အနောက်သို့ ရွေ့လျားသော "တုံ့ပြန်လှုပ်ရှားမှုကြီး"တို့ ဖြစ်ပေါ်ခဲ့သည့် အချိန်ကာလ သည် အနှစ် ၂၀ မျှ ကြာခဲ့သည်။ ထိုအနှစ် ၂၀ ကာလ အတွင်း၌ များလှစွာသော လယ်ကွင်းတို့သည် ထွန်ယက် မည့်သူမရှိဘဲ တိမ်ကောခဲ့ရသည်။ များလှစွာသော တိုက်တာ အိမ်ခြေတို့သည် မီးလောင်ပျက်စီးခဲ့ရသည်။ ကုန်သွယ်ရေးကိစ္စများသည် လမ်းကြောင်းပြောင်းသွားခဲ့ရ သည်။ သန်းပေါင်းများစွာသော လူ

များသည် တစ်ရပ်မှ တစ်ရပ်သို့ ပြောင်းရွှေ့ခြင်းပြုခဲ့ကြသည်။ အချို့သည် ချုတ်ခြုံကျ မွဲတေသည့်အဖြစ်သို့ ဆိုက်ရောက်ခဲ့ကြ၍ အချို့သည် ကျိုကျိုတက် ချမ်းသာသည့်အဖြစ်သို့ ရောက်ခဲ့ ကြသည်။ လူလူချင်း ချစ်ခင်ခြင်းဟူသောတရား ကို လက် ကိုင်ပြုသည်ဆိုသည့် သန်းပေါင်းများစွာသော ခရစ်ယာန် ဘာသာဝင် တို့သည်လည်း အချင်းချင်း သွေးချောင်းစီး အောင် သတ်ဖြတ်ခဲ့ကြလေသည်။

ဤအခြင်းအရာများသည် မည်သည့်အဓိပ္ပာယ် ဆောင်သနည်း။ ထို အခြင်းအရာများသည် မည်သည့် အတွက်ကြောင့် ပေါ်ပေါက်လာခဲ့ကြသနည်း။ မည်သည့် အတွက်ကြောင့် ထိုသူများသည် အချင်းချင်း သတ်ဖြတ် ကြ၍ အိုးအိမ် များကို မီးတိုက်ခြင်း ပြုခဲ့ကြသနည်း။ ထို ( အဖြစ်အပျက်များ၏ အကြောင်းရင်း များသည် မည်သည့် အရာများနည်း။ လူများအား ဤအမှုများကို ကျူးလွန်ရန် ၊ မည်သည့် အင်အားစုက စေခိုင်းခြင်းပြုသနည်း။ ဤသည် တို့ကား ထိုခေတ်က အစဉ်အလာများ၊ အမှတ်အသားများ ကို တွေ့ရသည့်အခါ၌ လူ့လောကကြီးက မေးမြန်းလျက် ရှိသော မေးခွန်းများ ဖြစ်ကြပေသည်။ မေးမြန်းထိုက် သော မေးခွန်း များလည်း ဖြစ်ပေသည်။

ရာဇဝင်သိပ္ပံပညာ၏ ရည်ရွယ်ချက်မှာ လူမျိုးများ ၂ နှင့်တကွ လူ့လောက ကြီးအား ၎င်းတို့အကြောင်းကို ၎င်းတို့ဘာသာ သိနားလည်ရေးအတွက် သင်ကြား ပေးရန် ဖြစ်၏။ ထို့ကြောင့် လူ့လောကကြီး၏ အသိဉာဏ်တရား သည် ထိုမေးခွန်း များကိုဖြေဆိုရန် ရာဇဝင်သိပ္ပံပညာထံ မေးမြန်းခြင်းပြု၏။

ရာဇဝင်သည် ရှေးဟောင်း အစွဲအလမ်းများကို လက်ခံခြင်းပြုလျှင် ဘုရားသခင်သည် မိမိ၏ လူသား များကိုအပြစ်ပေးရန် သို့မဟုတ် ကောင်းချီးပေး ရန်အတွက် နပိုလီယန်ကို တန်ခိုးအာဏာ အပ်နှင်းလိုက်သည်။ မိမိ ပြဋ္ဌာန်းထား သော ရည်ရွယ်ချက်များ အောင်မြင်ရေးအတွက် ဘုရားသခင်သည် နပိုလီယန်၏

စိတ်ဆန္ဒကို ဦးဆောင် လမ်းညွှန်ခြင်း ပြုတော်မူသည်။ ထို့ကြောင့် ဤအခြင်း အရာများသည် ဘုရားသခင် အလိုတော်အရ ပေါ်ပေါက် လာရခြင်းဖြစ်သည်ဟု ဖြေဆိုမည်။ ဤသို့ ဖြေဆိုခြင်း ပြုလျှင် ထိုအဖြေသည် (မှန်သည် မှားသည်၊ ယုံကြည်သည် မယုံကြည်သည်ကို အပထား၍) သူ့အကြောင်းနှင့်သူ ပြည့်စုံသည်သာ ဖြစ်၏။ ရှေ့နောက် ညီညွတ်သည်သာ ဖြစ်၏။ ရှင်းလင်းသည်သာဖြစ်၏။ ထိုအဖြေကို ကြားရ သူတို့သည် နပိုလီယန်၌ ဘုရားသခင်က ပြဋ္ဌာန်းအပ်နှင်း ထားသော တန်ခိုးအာဏာရှိသည်ဆိုသော အချက်ကို ယုံလိုက်လည်း ယုံကြည်နိုင်၏။ မယုံလိုကလည်း နေနိုင် ၏။ သို့ရာတွင် ထိုအဆိုအမိန့်ကို လက်ခံသူတို့အဖို့၌ကား ထိုအဖြေသည် ပြည့်စုံလျက်ရှိလေပြီ။ ရှင်းလျက်ရှိလေ ပြီ။ ဒွိဟဖြစ်စရာ မလိုတော့ပြီ။

သို့ရာတွင် ခေတ်သစ်ရာဇဝင်အဖို့ ဤအဖြေမျိုးကို မပေးနိုင်ချေ။ လောကီလူမှုကိစ္စများတွင် ဘုရားသခင် ကိုယ်တော်တိုင် ဝင်ရောက်စွက်ဖက်လျက်ရှိသည်ဟူသော ရှေးဟောင်းအယူအဆကို သိပ္ပံပညာကလည်း လက်မခံချေ။ ထို့ကြောင့် ခေတ်သစ်ရာဇဝင်သည် အခြားသော အဖြေများ ပေးရပေလိမ့်မည်။

သို့ဖြစ်လျှင် ခေတ်သစ်ရာဇဝင်သည် အထက်ပါ မေးခွန်းများကို မည်သို့ ဖြေဆိုသနည်း။ ခေတ်သစ်ရာဇဝင် ၏ အဖြေမှာ အောက်ပါအတိုင်း ဖြစ်၏။

“ဤလှုပ်ရှားမှုကြီးသည် မည်သည့်အဓိပ္ပာယ်ကို ဆောင်သနည်း။ ၎င်း၏အကြောင်းတရားများသည် အဘယ်နည်း။ ၎င်းအဖြစ်အပျက်များသည် မည်သည့်အင်အားစုများ၏ စေခိုင်းချက်ကြောင့် ပေါ်ပေါက်လာ • သနည်းဟု သင်တို့က မေးကြသည်။ ငါဖြေအံ့။ နားထောင် ကြလော့။” ', “ပြင်သစ်နိုင်ငံ၏ကေရာဇ် ၁၄ ကြိမ်မြောက် လူဝီ ဘုရင်သည် လွန်စွာမာနကြီး၍ ဘဝမြင့်သူတစ်ဦးဖြစ်၏။ ၎င်း၌ ထိုထိုဤဤသော မောင်းမကိုယ်လုပ်တော်များ ရှိ၍ ထိုထိုဤဤသော ဝန်ကြီးများ ရှိ၏။ ၎င်းသည်ပြင်သစ် နိုင်ငံကြီးကို ကောင်းစွာအုပ်ချုပ်ခြင်းမပြုဘဲ ကာမဂုဏ်

စည်းစိမ်ကိုသာ ခံစားလျက်ရှိ၏။ ၎င်း၏သားစဉ်မြေးဆက် များသည်လည်း ညံ့ဖျင်း နုနဲ့သူများသာ ဖြစ်ကြ၏။ ၎င်းတို့ သည်လည်း ပြင်သစ်နိုင်ငံကြီးကို ကောင်းစွာ မ အုပ်ချုပ်နိုင်။ ၎င်းတို့၌လည်း ထိုထိုဤဤသော လက်သပ်မွေး ကျွန်ယုံ များ၊ ထိုထိုဤဤသော မောင်းမကိုယ်လုပ်တော်များရှိကြ ၏။ ထိုအချိန်၌ အချို့သော ပုဂ္ဂိုလ်များက အချို့သော စာအုပ်များကို ရေးသားပြုစုကြ၏။ ၁၈ ရာစုနှစ် အကုန် လောက်တွင်ကား ပြင်သစ် နိုင်ငံ၊ ပါရီမြို့တော်၌ ဒါဇင် အနည်းငယ်သော လူတစ်စု တို့ ပေါ်ပေါက်လာခဲ့ကာ လူလူချင်းတန်းတူညီမျှ ပိုင်ခွင့် ရှိကြသည်ဟု လည်းကောင်း၊ လူအားလုံးသည် လွတ်လပ် ခွင့် ရှိကြသည်ဟုလည်းကောင်း ပြောဆိုလာခဲ့ကြ၏။ ၎င်းတို့၏ ဟောပြောချက်များကြောင့် ပြင်သစ်နိုင်ငံတစ်ဝန်းရှိ လူများသည် အချင်းချင်း ထိုးခုတ်  သုတ်ဖြတ်ကြ၏။ ၎င်းတို့သည် ဘုရင်နှင့်တကွ လူပေါင်း များစွာကို သတ်ဖြတ်ခဲ့ကြ၏။ ထိုအချိန်၌ ပြင်သစ်နိုင်ငံတွင် ဘုန်းကံပါရမီ နှင့် ပြည့်စုံသည့် နပိုလီယန်ဟူသော လူတစ် ယောက် ရှိသတတ်။ ထိုလူသည် ရောက်လေရာအရပ်၌ လူအပေါင်းတို့ကို အောင်မြင်၏၊ (ဝါ) တစ်နည်းကား ထိုလူ သည် ရောက်လေရာအရပ်၌ လူများစွာတို့ကို သတ် ဖြတ်၏။ အကြောင်းမူကား ထို လူသည် ကြီးမြတ်သော ဘုန်းကံပါရမီရှင် ဖြစ်သောကြောင့်ပေတည်း။ တစ်စုံတစ်ခု သော အကြောင်းကြောင့် ထိုလူသည် အာဖရိလူမျိုးများကို ကောင်းစွာ သတ်ဖြတ် နိုင်ခဲ့ခြင်းကြောင့် များစွာကျွမ်းကျင် လိမ္မာသည်ဟု ကောင်းချီးဩဘာ ပေးခြင်းခံ ရ၏။ ထိုလူ သည် ပြင်သစ်နိုင်ငံသို့ ပြန်ရောက်သောအခါ၌ နိုင်ငံသူ နိုင်ငံသား အားလုံးအား ၎င်း၏ဩဇာကို နာခံရန် အမိန့်ပေး ၏။ နိုင်ငံသူ နိုင်ငံသားများက လည်း ထိုလူ၏ အမိန့်ကို နာခံကြ၏။ ထိုလူသည် ပြင်သစ်နိုင်ငံကြီး၏ ဧကရာဇ် ဖြစ်သောအခါ၌ အီတလီ၊ ဩစတေးရီးယားနှင့် ပရပ်ရှား နိုင်ငံများသို့ သွားရောက်၍ လူများကို သတ်ဖြတ်ခြင်း ပြုပြန်၏။ ထိုဒေသ၌လည်း ထိုလူသည် လူပေါင်းများစွာ ကို သတ်ဖြတ်ခဲ့၏။ ထိုအခါ ရုရှားနိုင်ငံတွင် အလက် ဇန်းဒရား မည်သော ဧကရာဇ်

တစ်ပါး အုပ်စိုးလျက်ရှိ၏။ အလက်ဇန်းဒရားဘုရင်သည် ဥရောပတွင် ငြိမ်ဝပ်ပိပြားရေး ကို ထူထောင်မည်ဟု ပြဋ္ဌာန်းထားသည်နှင့်အညီ နပိုလီယန် ကို ခုခံစစ်ပြု၏။ ၁၈၀၇- ခုနှစ်၌ကား အလက်ဇန်းဒရား ဘုရင်သည် နပိုလီယန်နှင့် ရုတ်တရက် မိတ်ဆွေဖွဲ့ လိုက်ကြ၏။ သို့ရာတွင် ၁၈၁၁ ခုနှစ်၌မူ ၎င်းတို့သည် ရန်ဖြစ်ကြပြန်ကာ လူပေါင်းများစွာကို သတ်ဖြတ်ခြင်း ပြုကြပြန်၏။ နပိုလီယန်သည် စစ်သည်ခြောက်သိန်းဖြင့် ရုရှားနိုင်ငံတွင်းသို့ ဝင်ရောက်လာခဲ့ကာ မော်စကို မြို့ကို သိမ်းပိုက်လိုက်၏။ ထို့နောက် နပိုလီယန်သည် မော်စကို မြို့မှ ရုတ်တရက်ထွက်ပြေး၏။ အလက်ဇန်းဒရားဘုရင် သည် စတိန်း စသော ပုဂ္ဂိုလ်များ၏ အကြံပေးချက်အရ ဥရောပတိုက်ကြီးကို စည်းရုံးကာ ဥရောပငြိမ်း ချမ်းရေးကို ဖျက်ဆီးသူအား လက်နက်ဖြင့် ယှဉ်ပြိုင်တိုက် ခိုက်၏။ နပိုလီယန်၏ မဟာမိတ်ဆိုသူတို့တွင် တစ်မုဟုတ်ချင်း နပိုလီယန်၏ ရန်သူများ ဖြစ်လာကြ၏။ ၎င်းတို့သည် နပိုလီယန် နောက်ထပ်စုဆောင်းသော စစ်သည်များကို  တိုက်ခိုက်ကြ၏။ ဤသို့ဖြင့် မဟာမိတ်တို့သည် နပိုလီယန် ကို အောင်မြင်စွာ နှိမ်နင်းကာ ပါရီမြို့တော်သို့ ဝင်ရောက် လာခဲ့ကြ၏။ နပိုလီယန်ကို နန်းမှချကြ၏။ ထို့နောက် နပိုလီယန်ကို ဧကရာဇ် အဆောင်အယောင်တို့ကို နုတ်သိမ်း ခြင်းမပြုဘဲ ချစ်ကြည်လေးမြတ်စွာ ဆက်ဆံကြတာ အယ် လဘာကျွန်းသို့ ပို့လိုက်ကြ၏။ ထိုသူတို့သည် နပိုလီယန်ကို လွန်ခဲ့သောငါးနှစ်က လူဆိုး၊ ဓားပြ၊ ရာဇဝတ်ကောင်အဖြစ် သဘောထားခဲ့ကြ၏။ ထိုကျွန်းသို့ ပို့ပြီး တစ်နှစ်အကြာ ၌လည်း ထိုသို့ သဘောထားကြ၏။ ထို့နောက်၌ ပြင်သစ် နိုင်ငံကြီးကို ၁၈ ကြိမ်မြောက် လူဝီဘုရင်က အုပ်စိုး၏။ ပြင်သစ်နိုင်ငံသူ နိုင်ငံသားများနှင့် မဟာမိတ်များသည် ၁၈ ကြိမ်မြောက် လူဝီဘုရင်ကို ရယ် စရာ သတ္တဝါတစ်ဦး အဖြစ် သဘောထားကြ၏။ ထိုအခါ နပိုလီယန်သည် မိမိ၏ အစောင့်တပ်သားများရှေ့၌ သည်းထန်စွာ ငိုကြွေးပြီး နောက် ထီးနန်းကိုစွန့်ကာ တိုင်းခြားသို့ ထွက်ခွာသွားရ၏။ များမကြာမီ လိမ္မာကျွမ်းကျင်သော တိုင်းပြည်

ခေါင်းဆောင် များ သံတမန်များသည် (ထိုအထဲ၌ တာလေရန်းဆိုသူ ခေါင်းဆောင်ကြီးတစ်ဦးမှာ ၎င်းအတွက် သီးသန့်ထားသော ကုလားထိုင်တစ်လုံးတွင်ထိုင်၍ ပြင်သစ်နိုင်ငံကြီး နယ်နိ မိတ်များကို တိုးချဲ့တတ်သည်။ ဗီယင်နာမြို့တွင် တွေ့ဆုံ ဆည်းဝေးကြ၏။ ၎င်းတို့ စည်းဝေးပွဲကြောင့် အချို့သော လူမျိုးများမှာ အနိုင်ရ၍ ပျော်ရွှင်ကြ၏။ အချို့သော လူများမှာရှုံးသဖြင့်စိတ်ညစ်ကြ၏။ တစ်ဖန် သံတမန်များနှင့် ဧကရာဇ်များသည် စကားများကြပြန်ကာ စစ်တပ် ကြီးများဖြင့် တစ်ဖက်ကို တစ်ဖက်သတ်ဖြတ်ကြတော့မည့် အခြေသို့ ရောက်လာခဲ့ပြန်၏။ ဤသို့ဖြစ်လျက် ရှိချိန်၌ နပိုလီယန်သည် တပ်ခွဲတစ်ခွဲဖြင့် ပြင်သစ်နိုင်ငံ ပြန်ရောက် လာ၏။ ထိုအခါ၌ နပိုလီယန်ကို မုန်းတီးလျက်ရှိသော ပြင်သစ်တို့သည် ၎င်း၏ ခြေဖဝါးအောက်သို့ ဝင်ရောက်၍ သစ္စာခံကြပြန်၏။ သို့ရာတွင် မဟာမိတ် ဧကရာဇ်များသည် နပိုလီယန်ပြန်၍ စခန်းထလာခြင်းကို ပြင်းစွာ အမျက် ထွက်ကြသည်ဖြစ်၍ ပြင်သစ်နိုင်ငံကြီးကို ဒုတိယအကြိမ် . တိုက်ခိုက်ကျပြန်၏။ နောက်ဆုံး၌ ၎င်းတို့သည် ဘုန်းကံပါရမီရှင်နပိုလီယန်ကို နှိမ်နင်းကာ လူဆိုး၊ ဓားပြအဖြစ် သတ်မှတ်ပြီးနောက် စိန်ဟယ်လီနာအမည်ရှိသော ကျွန်း ကလေးတစ်ကျွန်းသို့ ပို့လိုက်ကြပြန်၏။ ဤသို့ဖြင့် နယ်ခြား   လူဆိုးဗိုလ်ကြီး နပိုလီယန်သည် ၎င်းချစ်မြတ်နိုးသော ပြည်သစ်နိုင်ငံကြီးမှ လွှန်စွာဝေးကွာသော ကျောက်ဆောင် ကလေးတစ်ဆောင်ပေါ်၌ ကွယ်လွန် အနိစ္စရောက်ခဲ့လေ သည်။ ၎င်း၏ကြီးမြတ်သောလုပ်ငန်း ကြီးများကို နောင်လာနောင်သားများအား အမွေပေးခဲ့လေသည်။ သို့ရာတွင် ဥရောပတိုက်၌ ဖောက်ပြန်ရေးကာလ (ဝါ) ဆုတ်ကပ် ကာလကြီးတစ်ခုသည် ဆိုက်ရောက်လာပြန်ကာ ပြည့်ရှင် ဘုရင်မင်းများသည် ၎င်တို့၏လက်အောက်ခံ ပြည်သူ ပြည်သားများကို နှိပ်စက်ကလူ ပြုမူကြလေသည်။” , ဤကား ရာဇဝင်အဖြစ်အပျက်များ၏ ပုံကြမ်းတည်း။ ဤရာဇဝင်အဖြစ်အပျက်များ၏ပုံကြမ်းကိုရယ်စရာ ဟု သင်တို့ထင်ကြသလော။ ရယ်စရာဟု ထင်လျှင် မှားပေလိမ့်မည်။ စင်စစ်၌ ဤဖော်ပြချက်မှာ

အတ္တုပ္ပတ္တိ ကျမ်းပြုဆရာများနှင့် နိုင်ငံတစ်နိုင်ငံ၏ အခြင်းအရာများကို ဖော်ပြသော ရာဇဝင်ကျမ်းပြုဆရာများအစ အထွေထွေ ရာဇဝင်ကျမ်းများနှင့် ထိုခေတ်ယဉ်ကျေးမှု၏ အကြောင်းကို ဖော်ပြသော ယဉ်ကျေးမှုသမိုင်းကျမ်းပြုသူအများအဆုံး၊ ရာဇဝင်ဆရာများအားလုံးက တစ်ယောက်တစ်ပေါက် ဖြေဆိုကြသော အဖြေများကို အသက်ညှာဆုံး ဖော်ပြထား ခြင်းသာ ဖြစ်လေသည်။ စင်စစ်၌ကား ၎င်းတို့၏အဖြေများ သည် မေးခွန်းနှင့် တခြားစီ ဖြစ်လျက်ရှိပေသည်။

ခေတ်သစ်ရာဇဝင်သည် နားမကြားသူ တစ် ယောက်ကဲ့သို့ မည်သူကမျှ မေးမြန်းခြင်းမရှိသော မေးခွန်း များကို ဖြေဆိုလျက် ရှိလေသည်။ ဤသို့ မေးခွန်းနှင့် တလွဲဖြေဆိုခြင်းကြောင့်လည်း ထိုအဖြေများသည် အံ့သြ စရာကောင်းလောက်အောင် အဓိပ္ပာယ်ကင်းမဲ့လျက်ရှိ ဖြစ်ပေသည်။

ရာဇဝင်၏ ရည်ရွယ်ချက်သည် လူ့လောကကြီးနှင့် လူမျိုးများ၏ လှုပ်ရှားမှုများကို ဖော်ပြရန် ဖြစ်၏။ ထို့ကြောင့် လူ့လောကကြီးက ရာဇဝင်ကို မေးမြန်းသော ပထမဆုံးမေးခွန်းမှာ “ပြည်သူများကို လှုပ်ရှားစေသော တန်ခိုးအာဏာဆိုသည်မှာ မည်သည့်အရာနည်း”ဟူသော မေးခွန်းဖြစ်သည်။ (ထိုမေးခွန်းကိုမှစ၍ မဖြေနိုင်လျှင် ကျန်မေးခွန်းများ ဖြေနိုင်ဖို့မလွယ်ပါ။) လူ့လောကကြီးက ဤသို့ မေးမြန်းသောအခါ၌ ခေတ်သစ်ရာဇဝင်သည် တတ်သမျှမှတ်သမျှ အပတ်တကုတ်အားထုတ်၍ ဖြေရှာ၏။ ထိုအဖြေကား နပိုလီယန်သည် ဘုန်းတန်ခိုးပါရမီရှင်ဖြစ်သည်။ သို့မဟုတ် ၁၄ ကြိမ်မြောက် လူဝီဘုရင်သည် လွန်စွာမာနကြီးသည်။ သို့မဟုတ် အချို့သော စာရေး ဆရာများသည် အချို့သောကျမ်းဂန်များကို ရေးခဲ့သည် ဟူသတတ်။

ဤအခြင်းအရာများသည် ဟုတ်ကောင်း ဟုတ်ပါ လိမ့်မည်။ လူ့လောကကြီးကလည်း သဘောတူရန် အဆင်သင့်ရှိပါသည်။ သို့ရာတွင် ၎င်းတို့သည်လည်း

အဖြေမဟုတ်သေးချေ။ လူ့လောကကြီးက မေးမြန်းသော မေးခွန်းနှင့် ခေတ်သစ် ရာဇဝင်က ဖြေဆိုသည့်အဖြေသည် ဘာဆိုင်သနည်း။ ခေတ်သစ်ရာဇဝင်၏ အဖြေများသည် "မေးခွန်းနှင့် တခြားစီဖြစ်လျက် ရှိသည်တကား။ မည်သူကမျှ မေးမြန်းခြင်းမရှိသော မေးခွန်းကို ဖြေဆိုလျက်ရှိသည် တကား။

ကျွန်ုပ်တို့သည် ဘုရားသခင်က ပြဋ္ဌာန်းအပ်နှင်း သော တန်ခိုးအာဏာကို ယုံကြည်လျက် ဘုန်းတန်ခိုး ပါရမီဉာဏ်ဆိုသည့်အရာကို ယုံကြည်ခဲ့လျှင် ခေတ်သစ် ရာဇဝင်၏ အဖြေများသည် စိတ်ဝင်စားဖွယ် ကောင်းဦး မည် ဖြစ်ပေသည်။ သို့ရာတွင် ကျွန်ုပ်တို့သည် ဘုရားသခင် က ပြဋ္ဌာန်းအပ်နှင်းသော တန်ခိုးအာဏာဆိုသည့် အရာကို လည်း မယုံကြည်ချေ။ ဘုန်းတန်ခိုးပါရမီဉာဏ် ဆိုသည့် • အရာကိုလည်း မယုံကြည်ချေ။ ထို့ကြောင့် နပိုလီယန်၊ လူဝီဘုရင်နှင့်တကွ စာရေးဆရာများ၌ ဘုန်းတန်ခိုး ပါရမီဉာဏ်ဆိုသည့်အရာ ရှိမရှိ၊ ဘုရားသခင်က အပ်နှင်း ထားသော တန်ခိုးအာဏာဆိုသည့်အရာ ရှိမရှိ ဆိုသည့် အချက်မဟုတ်။ ထိုပုဂ္ဂိုလ်များနှင့် ပြည်သူလူထုများ၏ လှုပ်ရှားမှုများ မည်သို့ဆက်စပ်လျက်ရှိသည် ဆိုသည့် အချက်သာ ဖြစ်လေသည်။

ခေတ်သစ်ရာဇဝင်သည် ဘုရားသခင်က အပ်နှင်း ထားသော အကြွင်းမဲ့ဖြစ်သော တန်ခိုးအာဏာဆိုသည့် အရာကို (ကျွန်ုပ်တို့ကဲ့သို့) မယုံကြည်ဟုဆိုလျှင် ပြည်သူ လူထုများကို လှုပ်ရှားစေသောအရာသည်' မည်သည့် အင်အားစု ဖြစ်သည် ဆိုသည့်အချက်ကို ဖော်ပြရလိမ့်မည် ဖြစ်ပေသည်။ ရာဇဝင်၏အလုပ်သည် ထို အင်အားစုကို ရှာဖွေရန် ဖြစ်ပေသည်။

ထိုအင်အားစုသည် မည်သည့်အရာဖြစ်ကြောင်းကို  အားလုံးသိပြီးသား ဖြစ်သည်။ အထင်အရှားဖြစ်သည်ဟု ခေတ်သစ်ရာဇဝင်က ယူဆပုံရ၏။ သို့သော်လည်း ရာဇဝင် ကျမ်းများကို ဖတ်ရှုလေ့လာသောအခါ၌ကား ထိုအင်အား

စုသည် မည်သည့်အရာဖြစ်သည်ဆိုသည့်ကိစ္စတွင် ရာဇဝင် ဆရာများကိုယ်တိုင် တစ်ယောက်တစ်မျိုး "ပေါက်တတ် ကရ" ပြောဆိုလျက်ရှိခြင်းကို တွေ့ရသောအခါ ၎င်းတို့ ၏ အဆိုအမိန့်များကို ကျွန်ုပ်တို့ သံသယ ဖြစ်လာခဲ့လေပြီ။

## အခန်း ၂

မည်သည့် အင်အားစုက လူမျိုးများကို လှုပ်ရှားစေသနည်း။

ရာဇဝင်ဆရာ အမျိုးမျိုးက အမျိုးမျိုး ဖြေဆိုကြ သည်။ ပထမအမျိုးအစားမှာ (၁) အတ္တုပ္ပတ္တိ ကျမ်းပြု ရာဇဝင်ဆရာများနှင့် (၂) လူမျိုးတစ်မျိုးအကြောင်းကို ရေးသားကြသော အမျိုးသားရာဇဝင်ဆရာများ ဖြစ်၏။ ၎င်းတို့က ပြည်သူလူထုကို လှုပ်ရှားစေသော အင်အားစု သည် လူစွမ်းကောင်းများ၊ အုပ်စိုးသူများ၏ ဇာတိ ပဋိသန္ဓေ ပါ ဘုန်းတန်ခိုးအာဏာဖြစ်သည်ဟု ဆိုကြ၏။ ရာဇဝင် ( အဖြစ်အပျက် များသည် နပိုလီယန်ကဲ့သို့သော ပုဂ္ဂိုလ်မျိုး၊ အလက်ဇန်းဒရား ကဲ့သို့သော ပုဂ္ဂိုလ် မျိုး၊ သို့မဟုတ် အလားတူ ဘုန်းတန်ခိုးပါရမီဉာဏ်နှင့် ပြည့်စုံသော ပုဂ္ဂိုလ် မျိုးတို့၏ စိတ်ဆန္ဒအရ ဖြစ်ပျက်ကြရသည်ဟု ၎င်းတို့ က ဆိုကြ၏။ အဖြစ်အပျက်တစ်ခုစီ တစ်ခုစီကသတ်သတ် ဖော်ပြခြင်းဖြစ်ဘိမူ ၎င်းတို့၏အဖြေကို လက်ခံနိုင်ဖွယ် ရှိ သေး၏။ သို့ရာတွင် ယခုကား ဤသို့မဟုတ်ချေ။ အဖြစ် ၊ အပျက်တစ်ခုတည်းကို ပင် လူမျိုးအသီးသီးမှ အမြင်အမျိုး မျိုးရှိသောရာဇဝင်ဆရာတို့က သူတစ်မျိုး ငါ တစ်ဖုံ ဝိုင်းဝန်း ရေးသားကြလေရာ ၎င်းတို့၏ အဖြေများသည် အဓိပ္ပာယ် ကင်းမဲ့ သောအဖြစ်သို့ ရောက်ရပေတော့သည်။ အဖြစ် အပျက်တစ်ခုသည် မည်သည့် အင်အားစုကြောင့် ဖြစ်သည် ဆိုသည့်အချက်၌ ၎င်းတို့အားလုံးကပင် ဘုန်းတန်ခိုး ( ပါရမီဉာဏ်နှင့် ပြည့်စုံသော လူစွမ်းကောင်းတစ်ဦး၏ တန်ခိုးအာဏာကြောင့် ပေါ်ပေါက်လာရသည်ဟု ဆိုကြ ၏။ သို့ရာတွင် မည်သူသည် ဘုန်းတန်ခိုး ပါရမီ

ဉာဏ်နှင့် ပြည့်စုံသူနည်း၊ မည်သူသည် လူစွမ်းကောင်းနည်းဟု ဆက်၍ ရှာဖွေသောအခါ၌ကား ၎င်းတို့အချင်းချင်း ဝိဝါဒ ကွဲပြားလာခဲ့ကြလေပြီ။ အဖြေတစ်ခုနှင့် တစ်ခု ဆန့်ကျင် လာကြလေပြီ။ ရာဇဝင်ဆရာတစ်ယောက်က အဖြစ်အပျက် တစ်ခုသည် နပိုလီယန်၏ ဇာတိပဋိသန္ဓေပါ ဘုန်းတန်ခိုး အာဏာကြောင့် ဖြစ်ရသည်ဟု ဆို၏။ အခြား တစ်ယောက် က အလက်ဇန်းဒရားဘုရင်၏ ဘုန်းတန်ခိုးအာဏာကြောင့် ဖြစ်ရသည်ဟုဆို၏။ အခြားတစ်ယောက်က နပိုလီယန် ကြောင့်လည်း မဟုတ်။ အလက်ဇန်းဒရားကြောင့်လည်း မဟုတ်၊ အခြားသော ပုဂ္ဂိုလ်တစ်ဦး၏ ဘုန်းတန်ခိုးအာဏာ ကြောင့် ဖြစ်ရသည်ဟု ဆိုပြန်၏။ ထိုသို့ ကွဲပြားခြားနား ဆန့်ကျင်လျက် ရှိကြရုံမျှသာမကသေးချေ။ အဆိုပါ ပထမ အမျိုးအစားဖြစ်သော ရာဇဝင် ဆရာတို့သည် ထိုပုဂ္ဂိုလ်၏ တန်ခိုးအာဏာသည် မည်သည့်နေရာက ဆင်းသက်လာ သနည်းဟူသောကိစ္စ၌လည်း ထပ်မံ၍ ကွဲလွဲလျက်ရှိကြပြန် လေသည်။ ဥပမာအားဖြင့် ပြင်သစ်ရာဇဝင်ဆရာနှစ်ဦးဖြစ် သော သိုင်းယာစနှင့် လန်ဖရီတို့သည် နပိုလီယန်၏ ဘုန်းတန်ခိုးအာဏာကြောင့် ဥရောပအဖြစ်အပျက်များ ပေါ်ပေါက်လာရသည်ဆိုသောအချက်၌ တူညီကြသော် လည်း နပိုလီယန်၏အာဏာသည် မည်သည့်နေရာက ဆင်းသက်လာသနည်းဟူသောကိစ္စ၌ တစ်မျိုးစီ ပြောဆို လျက်ရှိကြ၏။ နပိုလီယန်ဂိုဏ်းသား ရာဇဝင်ဆရာဖြစ် သော သိုင်းယာစ်က နပိုလီယန်၏ ဘုန်းတန်ခိုးအာဏာ သည် နပိုလီယန်၏ ကောင်းမြတ်သောကျင့်စဉ်နှင့် နပို လီယန်၏ ဘုန်းတန်ခိုးပါရမီဉာဏ်တို့မှ ဆင်းသက်ပေါက် ဖွားလာသည်ဟုဆို၏။ သမ္မတဂိုဏ်းသား ရာဇဝင်ဆရာ လန်ဖရီက နပိုလီယန်၏ဘုန်းတန်ခိုးအာဏာသည်၎င်း၏ ကောက်ကျစ်စဉ်းလဲခြင်း၊ ပြည်သူများကို လိမ်လည်ခြင်း တို့မှ ဆင်းသက်ပေါက်ဖွားလာသည်ဟုဆိုပြန်၏။ ဤ သို့ဖြင့် အဆိုပါ ပထမအမျိုးအစားဖြစ်သော ရာဇဝင်ဆရာ တို့သည် တစ်ဦး၏အဆိုအမိန့်ကို တစ်ဦးကလိုက်၍ချေဖျက် လျက်ရှိကြ၏။ အဖြစ်အပျက်များကို မည်သည့်

အင်အားစု က ဖြစ်ပေါ်စေသည်ဆိုသည့်အချက်ကို နားလည်ရေး၌ တစ်ယောက်ကို တစ်ယောက် နှောင့်ယှက် ဖျက်ဆီးလျက် ရှိကြ၏။ ဤသို့ဖြင့် ၎င်းတို့အားလုံးသည် ရာဇဝင်၏ - အဓိကမေးခွန်းကြီးကို ဖြေဆိုခြင်းမပြုဘဲ ဤနည်းဖြင့် "ဝှေ့လည် ကြောင်ပတ်" လုပ်လျက် ရှိကြလေသည်။

ဒုတိယအမျိုးအစားကား လူမျိုးများအားလုံး အကြောင်းကို ရေးသားဖော်ပြကြသည့် ကမ္ဘာ့ရာဇဝင် ဆရာများဖြစ်လေသည်။ မည်သည့်အတွက်ကြောင့် ရာဇဝင်၊ ( အဖြစ်အပျက်များ ပေါ်ပေါက်လာရသနည်းဆို သည့်ကိစ္စ၌ ၎င်းတို့သည် အမျိုးသားရာဇဝင်များနှင့် ကွဲလွဲဟန်ပြုကြ၏။ ၎င်းတို့က ရာဇဝင်အဖြစ်အပျက်များသည် လူစွမ်းကောင်း များ၊ အုပ်စိုးသူ ဧကရာဇ်များ၏ဇာတိပဋိသန္ဓေပါ တန်ခိုးအာဏာကြောင့် ပေါ်ပေါက်လာ ကြခြင်းမဟုတ်။ လားရာ ဘက် အသီးသီးရှိသော အင်အားစုများ၏ စုပေါင်းဆုံစည်း မှုကြောင့်ဖြစ်သည်ဟု ဆိုကြ၏။ စစ်ပွဲတစ်ပွဲ ဖြစ်ပွားခြင်း၊ လူမျိုးတစ်မျိုး ကျွန်ဖြစ်ရခြင်း စသည်တို့သည် လူပုဂ္ဂိုလ် တစ်ဦး၏ တန်ခိုးအာဏာကြောင့် မဟုတ်။ ထိုအဖြစ် အပျက်နှင့် ဆက်စပ်လျက်ရှိသော လူပုဂ္ဂိုလ်များစွာတို့၏ အပြန်အလှန် ဆောင်ရွက်ချက်များကြောင့် ဖြစ်သည်ဟု လည်း ၎င်းတို့က ဆိုကြ၏။ , ၎င်းတို့ပြောသည့်အတိုင်းဆိုလျှင် ကမ္ဘာ့ရာဇဝင် ဆရာများ၊ ရာဇဝင်ကျော် ပုဂ္ဂိုလ်များ၏ တန်ခိုးအာဏာ ကြောင့် ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်လာသည် ဆိုခြင်းကို လက်မခံဟု ဆိုရာရောက်ပေသည်။ သို့ရာတွင် လက်တွေ့၌ကား ၎င်းတို့သည်လည်း ထူးမခြားနား´သာ ဖြစ်လေသည်။ ၎င်းတို့သည် အဆိုပါ သဘောတရားကို လက်မခံဟု ဝစီကံမြောက် ပြောဆိုလျက်ရှိကြသော်လည်း ကာယကံမြောက်အားဖြင့် လက်ခံလျက်ရှိကြလေသည်။ ဥပမာအားဖြင့် ကမ္ဘာ့ရာဇဝင်ဆရာများဖြစ်သော ဂျာဗီးနပ့်စ်၊ ရှလိုဇာ စသူတို့က နပိုလီယန်ကြောင့် ပြင်သစ်တော်လှန် ရေးကြီး ပေါ်ပေါက်ခြင်းမဟုတ်။ ပြင်သစ်တော်လှန်ရေး" ကြီးနှင့်တကွ ၁၇၈၉ ခု တော်လှန်ရေးအတွေးအခေါ်များ ကြောင့်သာ နပိုလီ

ယန်ဆိုသည့် ပုဂ္ဂိုလ်တစ်ဦး ပေါ်ပေါက် ခဲ့ရခြင်းဖြစ်သည်ဟု တစ်နေ့တွင် ဆို၏။ သို့ရာတွင် ၁၈၁၃ ခု စစ်ပွဲဖြစ်ပွားခြင်း စသည့် ၎င်းတို့ မနှစ်သက်သော အဖြစ်အပျက်များ ပေါ်ပေါက်လာရသည့်ကိစ္စနှင့် စပ်လျဉ်း ၍ကား ဤသည်မှာ နပိုလီယန်၏ ရေလိုက်လွဲသောဆန္ဒ ကြောင့်ဟု တခြားတစ်နေရာတွင် ဆိုကြပြန်လေသည်။ ၎င်းတို့၏ စကားသည် ရှေ့နောက် ညီညွတ်ပါသေး၏ လော။

တော်လှန်ရေး အတွေးအခေါ်များနှင့် ခေတ်၏ ယေဘုယျရေစီးကြောင်းက နပိုလီယန်၏ တန်ခိုးအာဏာ ကို ထုတ်လုပ်ပေးခဲ့ခြင်း ဖြစ်လေသည်။ သို့ရာတွင် နပိုလီယန်၏ အာဏာစက်သည် တော်လှန်ရေး အတွေးအခေါ် များနှင့် ခေတ်၏ ယေဘုယျ ရေးစီးကြောင်းကို နှိပ်ကွက် ခဲ့လေသည်။

ဤထူးဆန်းသည့် ရှေ့နောက်မညီညွတ်သော စကားများသည် မတော်တဆ ပေါ်ပေါက်လာခြင်း မဟုတ် ချေ။ ဤဆင်ခြေလိမ်မျိုးကို ၎င်းတို့၏ ရေးသားချက်များ ၌ တစ်ရံတစ်ခါမှသာ တွေ့ရသည်လည်း မဟုတ်ချေ။ အတိုချုပ်ဆိုရလျှင်ကား ၎င်းတို့၏ ရေးသားချက်များသည် အလားတူ ဆင်ခြေလိမ်မျိုး၊ အလားတူ ယုတ္တိကင်းမဲ့သော စကားမျိုးဖြင့် တင်းကြမ်းပြည့်လျက်သာ ရှိလေသည်။ ဤသို့ ရှေ့နောက် မညီမညွတ်ဖြစ်ရခြင်းမှာ အခြားကြောင့် မဟုတ်။ ကမ္ဘာ့ရာဇဝင် ဆရာများသည် လူတတ်လုပ်၍ ရာဇဝင်ကို စစ်တမ်းထုတ်ကြည့်ကြပြီး အစွမ်းကုန်သော အခါ၌ ရှေ့သို့ ဆက်လက် စစ်တမ်းထုတ်ကြည့်ခြင်း မပြုတတ်တော့ဘဲ လမ်းတစ်ဝက်တွင် တန်းလန်းရပ်ပစ် ခဲ့သောကြောင့် ဖြစ်လေသည်။

ယန္တ ရားဗေဒ၌ ထင်ရှားသော ဥပဒေသတစ်ရပ် ရှိ၏။ ၎င်းဥပဒေ၏အဆိုမှာ ရလဒ်အားကြီးတစ်ခုနှင့် ညီမျှသော အစိတ်အပိုင်းအားငယ်များကို ရှာဖွေလိုလျှင် အဆိုပါ အစိတ်အပိုင်းအားငယ်များ၏ စုစုပေါင်းသည် ရလဒ်အားကြီးနှင့် ညီမျှမည်ဟူ၍ ဖြစ်၏။ ရာဇဝင်ဆရာ များသည် ထိုဥပဒေကို သတိမပြုမိကြချေ။ ၎င်း

တို့သည် ရလဒ်အားကြီးတစ်ခုကို ဖော်ပြသောအခါ၌ အစိတ်အပိုင်း `အားငယ်များ ကို ရှာဖွေကြ၏။ သို့ရာတွင် ရှာဖွေတွေ့ရှိ သော အစိတ်အပိုင်းအားငယ်များ၏ စုစုပေါင်းသည် ရလဒ်အားကြီးနှင့် ညီမျှခြင်းမရှိသောအခါ၌ ၎င်းတို့သည် ရလဒ်အား ကိုဖြစ်စေသည့် မသိသေးသော အခြားအစိတ် အပိုင်းအားများ ရှိသေးသည်ဟု ယူဆလာကြလေသည်။

၁၈၁၃ ခုနှစ် တိုက်ပွဲစဉ်နှင့် ပြင်သစ်ပြည်တွင် မင်းဆက်ပြန်လည် နန်းတက် ခြင်းသည် အလက်ဇန်းဒရား ဘုရင်၏ တန်ခိုးအာဏာကြောင့် ဖြစ်ရသည်ဟု အမျိုးသား ရာဇဝင်ဆရာတို့က ဆိုကြ၏။ သို့ရာတွင် ကမ္ဘာ့ရာဇဝင် ဆရာဂျာဗီး နာ့စ်ကမူ ဤအချက်ကို လက်မခံချေ။ ဤအဖြစ် အပျက်များဖြစ်ရခြင်းသည် အလက်ဇန်းဒရား ဘုရင်တစ်ဦး ၏ တန်ခိုးအာဏာကြောင့် မဟုတ်။ စတိန်း၊ မက် တားနစ်၊ မဒမ်ဒီစတေးလ်၊ ဖစ်ချ်တီ၊ တယ်လေရန်း၊ ရှာတိုဘရိုင်ယန် စသည့် ဩ ဇာတိက္ကမရှိသူ ပုဂ္ဂိုလ်များ၏ ဆောင်ရွက်ချက် များကြောင့်ဖြစ်သည်ဟု ၎င်းက ဆင်ခြင်တက်၏။ တစ် နည်းဆိုရသော် ၁၈၁၁ ခုနှစ် တိုက်ပွဲစဉ်နှင့် ဘာဘွန် - မင်းဆက် နန်းတက်ခြင်းဟူသော ရလဒ်အားကြီးတစ်ခု ဖြစ်ပေါ်ရခြင်းသည် အလက်ဇန်းဒရား၏ တန်ခိုးအာဏာ တည်းဟူသော အစိတ်အပိုင်းအားငယ် တစ်ခု တည်းကြောင့် မဟုတ်။ ဖော်ပြပါ ဩဇာတိက္ကမရှိသူ ပုဂ္ဂိုလ်များ၏ ဆောင်ရွက် ချက်တည်း ဟူသော အစိတ်အပိုင်းအားငယ် ကလေးများကြောင့် ဖြစ်ရသည်ဟု ဆို၏။ သို့ရာတွင် ၎င်းတို့ပြသော အစိတ် အပိုင်း အားငယ်ကလေးများသည် ရလဒ် အားကြီးနှင့် ညီမျှခြင်း မရှိသေးချေ။ တစ်နည်းဆိုရ ( သော် ဘာဘွန်းမင်းဆက် နန်းတက်ခြင်းသည် ထိုပုဂ္ဂိုလ် တို့ကြောင့်ဟု ပြောရုံဖြင့် မလုံလောက်သေးချေ။ ရှာ တို ဘရိုင်ယန်၊ မဒမ်ဒီစ တေးလ် စသည့် ပုဂ္ဂိုလ်များသည် ဆောင်ရွက်ချက်များ ပြု ခဲ့ကောင်း ပြုခဲ့မည်ဖြစ်၏။ ၎င်းတို့ ဆောင်ရွက်ချက်များကြောင့် ၎င်းတို့ အချင်းချင်း၏ ဆက်ဆံ ရေးသည်လည်း တစ်မျိုးတစ်ဖုံ ပြောင်းလဲကောင်း

ပြောင်းလဲ မည် ဖြစ်၏။ သို့ရာတွင် ၎င်းတို့ ဆောင်ရွက်ချက်ကြောင့် သန်းပေါင်း များစွာသော ပြင်သစ်တို့က ဘာဘွန်မင်းဆက် ကိုပြန်၍ နန်းတင်ရသည့်အဖြစ်သို့ ရောက်ရသည်ဆိုခြင်း မှာကား ယုတ္တိမရှိချေ။ မဖြစ်နိုင်ချေ။ ဤသို့ ပြောဆိုခြင်း ' သည် “က” နှင့် ညီမျှသော အစိတ်အပိုင်းအားငယ်များက

”က” အဆတစ်ထောင်နှင့် ညီမျှသော ရလဒ်အားကြီး တစ်ခုကို ဖြစ်စေသည်။ က X ၁ = က X ၁၀၀၀ဟု ဆိုခြင်းကဲ့သို့ အဓိပ္ပာယ် ကင်းမဲ့လှပေသည်။ သေးငယ်သော ' အဖြစ် အပျက်ကလေးတစ်ခုက ၎င်းထက် အဆတစ် ထောင် ကြီးကျယ်သော အဖြစ်အပျက်ကြီးတစ်ခုကို ဖြစ်စေ နိုင်သည်ဟု ဆိုခြင်းကဲ့သို့ ယုတ္တိကင်းမဲ့လှပေသည်။ ထို အခါ၌ ဂျာဗီးနှစ် ကဲ့သို့သော ကမ္ဘာ့ရာဇဝင်ဆရာ များသည် တန်ခိုးအာဏာကြောင့် ဖြစ်ရသည်ဟု ဆိုကြပြန်လေသည်။

ဤသို့ဖြင့် ၎င်းတို့သည် အမျိုးသားရာဇဝင်ဆရာများကို ဆန့်ကျင်လျက်ရှိရုံမျှ မက ၎င်းတို့ဘာသာ ၎င်းတို့လည်း ပြန်၍ ဆန့်ကျင်လျက်ရှိလေသည်။

မိုးရွာခြင်း၏ အကြောင်းရင်းကို နားမလည်သော လယ်သမားကြီးများသည် ၎င်းတို့ မိုးရွာစေချင်တုန်း  မိုးရွာလျှင် မိုးတိမ်တို့ကို လေက သယ်ဆောင်လာသဖြင့် မိုးရွာခြင်း ဖြစ်သည်ဟု ဆိုကြ၏။ ၎င်းတို့ မိုးရွာစေချင်တုန်း 'မိုးမရွာပြန်လျှင် မိုးတိမ်တို့ လေဖွေ့ရာပါသွားသဖြင့် မိုးမရွာခြင်းဖြစ်သည်ဟု ဆိုကြပြန်သည်။ ကမ္ဘာ့ရာဇဝင် ဆရာများသည်လည်း ထိုနည်းတူ ဖြစ်လေသည်။ ၎င်းတို့ စိတ်လို၍ ၎င်းတို့၏ သဘောတရားနှင့် ကိုက်ညီလျှင် အဖြစ်အပျက်များကြောင့် တန်ခိုး အာဏာဟူ၍ ပေါ်ပေါက် လာခြင်း ဖြစ်သည်ဟု တစ်ခါတစ်ရံ ဆိုတတ်ကြ၏။ ၎င်း ကို စိတ်ကြိုက်မတွေ့၍ ၎င်းတို့ သဘောတရားနှင့် ကိုက်ညီခြင်း မရှိ သောအခါ၌ကား အဖြစ်အပျက်ကြောင့် တန်ခိုးအာဏာဟူ၍ ပေါ်ပေါက်လာခြင်း

မဟုတ်။ တန်ခိုး အာဏာကြောင့်သာ အဖြစ်အပျက်များ ပေါ်ပေါက်လာရ ခြင်း ဖြစ်သည်ဟု ဆိုကြပြန်လေသည်။

တတိယအမျိုးအစားဖြစ်သော ရာဇဝင်ဆရာများ မှာ ယဉ်ကျေးမှု ရာဇဝင် ဆရာဆိုသူများ ဖြစ်၏။ ၎င်းတို့ သည် စာရေးဆရာများ၊ ထက်မြက်သော မိန်းမများ ကြောင့် ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်ခြင်း ဖြစ်သည်ဟု (တစ်ခါတစ်ရံ စိတ် ရလျှင်) လက်ခံတတ်ကြသော ကမ္ဘာ့ ရာဇဝင်ဆရာများ၏ အယူအဆနှင့် နီးစပ်၏။ သို့ရာတွင် လုံးလုံးလျားလျား တူညီခြင်း မဟုတ်ချေ။ ၎င်းတို့က . လည်း ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်လာခြင်းမှာ ယဉ်ကျေးမှုဟုခေါ်သော အသိပညာဖွံ့ဖြိုးမှုကြောင့် ဖြစ် သည်ဟု တစ်ဘာသာ ကြွေးကြော်ကြပြန်လေ သည်။

အဆိုပါ ယဉ်ကျေးမှု ရာဇဝင်ဆရာများသည် ၎င်းတို့၏ ဘိုးဘေးများဖြစ်သော ကမ္ဘာ့ရာဇဝင်ဆရာများ ၏ အယူအဆကို ခြေရာခံ၍ တိုးချဲ့လာခဲ့ကြ။ ၎င်းတို့က အချို့ချို့သော လက်တစ်ဆုပ်စာ လူပုဂ္ဂိုလ်တစ်စု၏ ဆောင်ရွက်ချက်ကြောင့် ရာဇဝင်အဖြစ်အပျက်များ ပေါ် ပေါက်ခဲ့ရသည်ဆိုလျှင် အချို့ချို့သော စာရေးဆရာ များ ၏ စာပေများကြောင့်လည်း ရာဇဝင်အဖြစ်အပျက်များ မပေါ်ပေါက်နိုင်တော့ပြီ လောဟု ဆိုကြ၏။ ရာဇဝင် အဖြစ်အပျက်တစ်ခု၏ အကြောင်းအရာများ၊ ထောင် သောင်းမက အသိပညာ ဖွံ့ဖြိုးတိုးတက်မှုကိုသာ တစ်ခု တည်းသော အကြောင်းတရားအဖြစ် ရွေးထုတ်ပြောဆို ခဲ့ကြလေသည်။ အသိပညာဖွံ့ဖြိုး တိုးတက်ခြင်းကြောင့် . ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်ရခြင်းဖြစ်သည်ဟု လည်း သာဓကထုတ်ပြရန် ကြိုးစားကြသည်။ ၎င်းတို့က မည်မျှကြိုးစားစေကာမူ အသိပညာဖွံ့ဖြိုးမှုကြောင့် ထိုအသိ တရားနှင့်အညီ ပြည်သူလူထုများ လှုပ်ရှားရ သည်ဟု လူနားလည်အောင် လက်ဆုပ်လက်ကိုင် သက်သေပြရန်မှာ မလွယ်ကူလှ ချေ။ အသိပညာ ဖွံ့ဖြိုးရေးလုပ်ငန်းများသည် ပြည်သူလူထုများ၏ လှုပ်ရှားမှုကို

ချုပ်ကိုင်လျက်ရှိသည် ဆိုသည့်အချက်ကိုလည်း မည်သူကမျှ လက်ခံကြလိမ့်မည် မဟုတ်ချေ။ ဤအယူအဆကို အထောက်အကူပြုသော ( အဖြစ်အပျက်မျိုးလည်း ရာဇဝင်၌ မရှိခဲ့သေးချေ။ လူ အချင်းချင်း တန်းတူညီမျှအခွင့်အရေးရှိရမည်ဟု တဖွဖွ အသိပညာ ပေး၍မှမဆုံးမီ ပြင်သစ်တော်လှန်ရေးကြီး အတွင်း အရက်စက်ဆုံးသော လူသတ်ပွဲကြီးများ ဖြစ်ပွား ခဲ့သည် မဟုတ်လော။ လူအချင်းချင်း မေတ္တာထားရမည် ဟု တစာစာ ဟောပြောပညာပေး၍မဆုံးမီ ကြောက်ခမန်း လိလိ စစ်ပွဲကြီးများနှင့် လူသတ်ပွဲကြီးများ ပေါ်ပေါက် ခဲ့သည် မဟုတ်လော။ ဤသည်တို့ကို ထောက်သော် ၎င်းတို့၏ အဆိုအမိန့်သည်လည်း ယုတ္တိမရှိသေးချေ။

ကောင်းပြီ။ ၎င်းတို့ကျွမ်းကျင်သော လုပ်ကြံ တီထွင်ထားသော ဆင်ခြေများသည် မှန်သည်ဟုပင်ထား ပါဦး။ ၎င်းတို့ပြောသကဲ့သို့ လူမျိုးများ၊ ပြည်သူများကို အတွေးအခေါ်အယူအဆများက ချုပ်ကိုင်ထားသည်ဟု ပင် ထားပါဦး။ ၎င်းတို့၏အဖြေသည်လည်း ရာဇဝင်က မေးမြန်းလျက် ရှိသော အဓိကရမေးခွန်းကို လိပ်ပတ်လည် အောင် ဖြေဆိုခြင်း မပြုနိုင်သေးချေ။ (ပြေလည်အောင် ဖြေဆိုခြင်း မပြုနိုင်ရုံမျှမက ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်လာခြင်းမှာ ဧကရာဇ်တို့၏ တန်ခိုးအာဏာ "ကြောင့် ဖြစ်သည်ဟုဆိုသူ အမျိုးသားရာဇဝင်ဆရာတို့၏ အဆိုအမိန့်က တစ်မျိုး၊ တတ်ပွန် လိမ္မာသော ပုဂ္ဂိုလ်အချို့ ၏ ဆောင်ရွက်မှုကြောင့် ဖြစ်သည်ဟုဆိုသော ကမ္ဘာ့ရာဇ ဝင်ဆရာတို့၏ အဆိုအမိန့်ကတစ်မျိုး စသဖြင့် အဆို ( အမိန့်နှစ်ရပ် ကွဲပြားနေသည့်အထဲ၌ ယဉ်ကျေးမှုရာဇဝင် ဆရာ၏ အဆိုအမိန့်တစ်ရပ်က ထပ်၍ တိုးလာပြန်သဖြင့် ပို၍ပင် ရှုပ်ထွေးလာချေသေး၏။) ထိုမျှမကသေးချေ။ ထိုအတွေးအခေါ် အယူအဆများသည် ပြည်သူလူထုနှင့် မည်သို့မည်ပုံ ဆက်စပ်နေသည်။ ပြည်သူလူထုကို မည်သို့ မည်ပုံ ချုပ်ကိုင်လျက်ရှိသည်ကို ရှင်းလင်းရန်လည်းလို ပေသေးသည်။ နပိုလီယန်၌ ဇာတိပဋိသန္ဓေပါ တန်ခိုး အာဏာရှိသည်။ ထိုတန်ခိုးအာဏာကြောင့် ရာဇဝင် အဖြစ်အပျက်များ

ပေါ်ပေါက်ရသည်ဟု အမျိုးသားရာဇဝင် 'ဆရာတို့ကဆိုကြရာ ကျွန်ုပ်တို့သည် အဆိုအမိန့်ကို (မ ယုံကြည်သည့်တိုင်အောင်) နားလည်နိုင်သေး၏။ ကတ် ကတ် သတ်သတ် စဉ်းစားကြည့်မည်ဆိုက ရာဇဝင်အဖြစ် အပျက်များသည် နပိုလီယန်နှင့် တကွ အခြားသော အကြောင်းများကြောင့် ပေါ်ပေါက်လာခြင်းဖြစ်သည်ဟု ယုံကြည်မည်ဆိုလျှင် ယုံကြည်နိုင်သေး၏။ သို့ရာတွင် . ရှူးဆိုး၏ "လူမှုပဋိညာဉ် ကျမ်း"ဟူသော စာအုပ်တစ်အုပ် ကြောင့် ပြင်သစ်လူမျိုးအချင်းချင်း သတ်ဖြတ် သည့် ပြင်သစ် တော်လှန်ရေးကြီး ပေါ်ပေါက်ရသည့်အဖြစ်သို့ ရောက်ရ သည်ဆို သည့် ယဉ်ကျေးမှု ရာဇဝင်ဆရာများ၏ အဆို အမိန့်ကိုကား ကျွန်ုပ်တို့ မည်သည့် နည်းနှင့်မျှ နားမလည် နိုင်ချေ။ ထိုစာအုပ်နှင့် ထိုအဖြစ်အပျက် မည်သို့မည်ပုံ ဆက်စပ်နေပုံ ခိုင်ခိုင်မာမာ သက်သေထူနိုင်လျှင်ကား ယုံကောင်း ယုံပေလိမ့်မည်။

မှန်ပါသည်။ ခေတ်တစ်ခေတ်တွင် တစ်ချိန်တည်း ဖြစ်ပေါ်နေသော အရာ များသည် တစ်ခုနှင့်တစ်ခု ဆက်စပ် လျက်ရှိကြပါသည်။ ဤအချက်ကို ကျွန်ုပ် မ ငြင်းလိုချေ။ ထို့ကြောင့် အသိပညာတိုးတက်ရေးနှင့် စပ်လျဉ်းသော ဆောင်ရွက် ချက်များနှင့် ရာဇဝင် အဖြစ်အပျက်များသည် တစ်ခုနှင့်တစ်ခု ဆက်စပ်လျက်ရှိ သည် ဆိုခြင်းမှာလည်း မှန်ပါသည်။ လူ့လောကကြီး၏ အဖြစ်အပျက်များထဲ၌ ကူးသန်းရောင်းဝယ်ရေးကိစ္စ၊ လက်မှုအတတ်ပညာကိစ္စ၊ လယ်ယာစိုက်ပျိုးရေးကိစ္စ စသဖြင့် ကိစ္စပေါင်းများစွာ အကျုံးဝင် ဆက်စပ်နေသည်သာ ဖြစ်၏။ ဤအချက်ကို လည်း ကျွန်ုပ်နားလည်နိုင်ပါသည်။ သို့ရာတွင် ရာဇဝင် အဖြစ်အပျက်ကြီးတစ်ခုလုံး ပေါ်ပေါက်လာရခြင်းမှာ အသိ ပညာတိုးတက်ရေးနှင့် ပတ်သက်သည့် ဆောင်ရွက် ချက် များကြောင့်သာ ဖြစ်သည်ဟု ယဉ်ကျေးမှု ရာဇဝင်ဆရာ များက ပြောဆိုနေ ကြခြင်းကိုကား ကျွန်ုပ် နားမလည်နိုင် ချေ။ ယဉ်ကျေးမှုရာဇဝင်ဆရာများက ဤသို့ ယူဆကြခြင်း မှာ အောက်ပါအကြောင်းတို့ကြောင့်သာ ဖြစ်တန်ရာသည်။ (၁) ရာဇဝင်ကို ရေးသူများမှာ ပညာရှိများ ဖြစ်ကြသည့် အလျောက် မိမိတို့ပညာရှိ

လူတန်းစား၏ ဆောင်ရွက် ချက်များကြောင့်သာ လူ့လောကကြီးတစ်ခုလုံး ပြောင်းလဲ လှုပ်ရှားရသည်ဟု ၎င်းတို့စိတ်၌ ထင်မှတ်ကြဟန်ရှိခြင်း။ (ဤသို့ ထင်မှတ်ခြင်းမှာလည်း သဘာဝကျပါသည်။ ကုန်သည်၊ လယ်သမား၊ စစ်သား စ သည့် ကမ္ဘာလောက ကြီးတွင် မှီတင်းနေထိုင်သူ လူတန်းစားအသီးသီးကလည်း မိမိ တို့သာ ကမ္ဘာလောကကြီးကို ပြောင်းလဲလှုပ်ရှားစေ နိုင်သည်ဟု ထင်မှတ်ကြသည် သာ ဖြစ်ပါသည်။ အတိ အလင်း ထုတ်ဖော်မပြောကြလျှင် ဤသို့ ဖွင့်မပြောကြခြင်း မှာ ၎င်းတို့သည် ရာဇဝင်ကျမ်းစာအုပ်များကို ရေးသား ခြင်း မပြုသောကြောင့်သာ ဖြစ်ပါသည်။) (၂) အသိပညာ တိုးတက်ရေး ဆောင်ရွက်မှု၊ ဉာဏ်ပညာ ဖွံ့ဖြိုး တိုးတက် ရေး၊ ယဉ်ကျေးမှု၊ အတတ်ပညာပြုစုပျိုးထောင်မှု၊ အတွေး အခေါ် စသည့် စကားလုံးများသည် တိကျရေရာခြင်းမရှိ “

သော လက်ဆုပ်လက်ကိုင် ပြ၍မရသော ခံယူချက်များ ဖြစ်သည့်အလျောက် ထိုခေါင်းစဉ်များအောက်၌ ထို့ထက် ပိုမို၍ တိကျရေရာခြင်းမရှိသော စကားလုံးများ ကို ရောမွှေ ထည့်သွင်းရန် လွယ်ကူခြင်း၊ ဤသို့ဖြင့် မိမိအလိုရှိသော သဘောတရား၊ အယူအဆတစ်ရပ်ကို အဆင်သင့် တီထွင် နိုင်ခြင်း စသည့် အကြောင်းနှစ်ရပ်ကြောင့် ဖြစ်ဟန်တူ ပေသည်။

သို့ဖြစ်ရကား ယဉ်ကျေးမှုရာဇဝင် ဆိုသည့်အရာ ကို တစ်ခုတည်း သီးခြား ခွဲထုတ်၍ ကြည့်လျှင် ၎င်း၌ ကိုယ်ပိုင်တန်ဖိုးဟူ၍ ဘာမျှမရှိချေ။ (အချို့သော သူများ အတွက်ကား အချို့သော အကြောင်းများကြောင့် အသုံးကျ ကောင်း ကျပါ လိမ့်မည်။ ၎င်း၌ ကိုယ်ပိုင်တန်ဖိုးရှိဖို့ မဆိုထားနှင့် ၎င်းကြောင့်ပင် အခြား အထွေထွေရာဇဝင်များ ၏ တန်ဖိုးပင် ပျက်စီးရသေးသည်။ ယဉ်ကျေးမှု ရာဇဝင် ဆို သောအရာ၌ ဝိသေသထူးခြားချက်ဟူ၍ရှိခဲ့လျှင် ၎င်းမှာ အခြားမဟုတ်။ အမျိုးမျိုး သောဘာသာရေး၊ အဘိဓမ္မာရေး နှင့် နိုင်ငံရေးသဘောတရားများကို ရာဇဝင်

အဖြစ်အပျက် L များ ပေါ်ပေါက်စေသည့် တကယ့်အကြောင်းရင်းကြီး များသဖွယ် "ဟုတ္တိပတ္တိ" လေ့လာပြီးသည်၏ အခြားမဲ့၌ ကမ္ဘာတွင် တကယ်ဖြစ်ပျက်သည့် ရာဇဝင်အဖြစ်အပျက် တစ်ခု (ဥပမာ ၁၈၁၂-ခုနှစ် စစ်ပွဲ) ကို ဖော်ပြသည့်အခါတွင် ထိုအဖြစ်အပျက်သည် တန်ခိုးအာဏာကြောင့် ပေါ် ပေါက်ခြင်းဖြစ်သည်။ ထိုစစ်ပွဲသည် နပိုလီယန်၏ တန်ခိုး  အာဏာကြောင့် ဖြစ်ပွားရခြင်းဖြစ်သည်ဟု တလွဲကို ဖော်ပြတတ်ခြင်းသာလျှင် ယဉ်ကျေးမှုရာဇဝင်၏ ထူးခြား သော ဂုဏ်ဒြပ်များပင်ဖြစ်လေသည်။ ဤသို့ ဟိတ်နှင့် ဟန်နှင့် အစပျိုးလာပြီးနောက် "အဖျားရှူး" သွားခြင်းအား ဖြင့် ယဉ်ကျေးမှုရာဇဝင်ဆရာများသည်လည်း ၎င်းအဆို အမိန့်ကို ၎င်းတို့ပြန်၍ ဆန့်ကျင်လျက်ရှိပြန်လေသည်။ ၎င်းတို့ တီထွင်ဖန်တီးထားသည့် အသိပညာ ဖွံ့ဖြိုးရေး ဆောင်ရွက်ချက်ဟူသောအရာတို့သည် ရာဇဝင်၌ ဘာမျှအသုံးမကျကြောင်းကို ဖော်ပြလျက်ရှိလေသည်။ ရာဇဝင် အဖြစ်အပျက်ဟူသည့် ၎င်းတို့ အသိအမှတ်မပြုဟု ဆို ထားသော တန်ခိုးအာဏာဆိုသည့်အရာကြောင့် ဖြစ်ပေါ် လာခြင်းဖြစ်သည်ဟု ဆိုရာရောက်လျက် ရှိလေသည်။

# အခန်း ၃

မီးရထားတစ်စင်းသည် ရွေ့လျားလျက်ရှိ၏။ ဤတွင် ထိုမီးရထားသည် မည်သည့်အရာကြောင့် ရွေ့လျားသနည်း ဟု တစ်ယောက်က မေး၏။ လယ်သမားတစ်ယောက်က နတ်တို့၏ တန်ခိုးဣဒ္ဓိပါဒ်ကြောင့် ဖြစ်သည်ဟု ဖြေ၏။ အခြားလယ်သမားတစ်ယောက်က ဘီးများလည်ပတ်သော ကြောင့်ဖြစ်သည်ဟု ဖြေ၏။ တတိယ လယ်သမားကမူ လေထဲတွင် တလူလူလွင့်လျက်ရှိသော စက်ခေါင်းမှမီးခိုးများကြောင့် ရွေ့လျားခြင်းဖြစ်သည်ဟု ဖြေ၏။

ပထမလလယ်သမား၏အဖြေသည် ရှင်း၏။ ခိုင်လုံ ၏။ ၎င်းအဖြေသည် ပြည့်စုံသောအဖြေတစ်ခု ဖြစ်၏။ ၎င်း၏အဖြေကို မကျေနပ်လျှင် လောက၌ နတ်တို့၏တန်ခိုးဣဒ္ဓိပါဒ်ဟူသည် မရှိဟု သက်သေပြရမည် ဖြစ်၏။ ဤသို့သက်သေပြရာ၌ မီးရထား ရွေ့လျားခြင်းမှာ နတ်တို့ ၏တန်ခိုးဣဒ္ဓိပါဒ်ကြောင့် မဟုတ်ကြောင်း၊ စက်ခေါင်း မောင်းသည့် ဂျာမန်ကြီးကြောင့်သာ ဖြစ်ကြောင်းဖြင့် သက်သေပြနိုင်၏။ ထိုအခါတွင် ၎င်းတို့နှစ်ဦး အငြင်းပွား - ကြ၏။ အငြင်းပွားပြီးသည့်နောက်မှသာ ၎င်းတို့နှစ်ဦးစလုံး မှားကြောင်း သိလာကြလိမ့်မည် ဖြစ်ပေသည်။ သို့ရာတွင် မီးရထား ရွေ့လျားရခြင်းမှာ ဘီးများ လည်ပတ်ခြင်းကြောင့် ဖြစ်သည်ဟုဆိုသော ဒုတိယလယ်သမား၏ အဖြေကား ပထမလယ်သမား၏ အဖြေမျှလောက်မျှပင် ခိုင်လုံခြင်း မရှိချေ။ ၎င်းသည် အစပျိုးမိသည်နှင့် တစ်ပြိုင်နက် "ရေဆုံးရေဖျား"လိုက်ရတော့မည်ဖြစ်၏။ ဘီးများလည်ပတ် ခြင်းကြောင့် ဖြစ်သည်ဆိုလျှင် ထိုဘီးများ မည်သည့်အတွက်ကြောင့် လည်ပတ်ရသည်ကို ဆက်လက်ဖော်ပြရ မည် ဖြစ်၏။ ဤသို့ဖြင့် နောက်ဆုံး၌ ရေနွေးအိုးထဲရှိ ရေနွေးငွေ့များ၏ ဖိနှိပ်ခြင်းအားကြောင့် ရွေ့လျားရခြင်း ဖြစ်သည်ဟူသော အဆုံးစွန်သော အကြောင်းတရားသို့ ရောက်သည်အထိ ဆက်လက်ဖော်ပြရမည်ဖြစ်၏။ ၎င်း သည် "ဟုတ်တိပတ်တိ" အစပျိုးလာပြီးမှ လမ်းခုလတ် တွင် ရပ်တန့်နေ၍ မဖြစ်တော့ချေ။ မီးရထား ရွေ့လျားခြင်း သည် လေတိုက်ရာသို့လွင့်ပါသွားသော မီးခိုးများကြောင့် ဖြစ်သည်ဆိုသော တတိယလယ်သမားကား ဘီးများ လည်ပတ်ခြင်းသည် မီးရထားကို ရွေ့လျားစေသော အကြောင်းတရား မဟုတ်တန်ရာဟု သိဟန်တူ၏။ ထို့ ကြောင့် ၎င်း၏အလှည့်သို့ ရောက်သည်နှင့် တစ်ပြိုင်နက် မျက်စိထဲတွင် "ကွက်ခနဲ မြင်လိုက်ရသောအရာကို ရမ်းသန်း၍ပြောလိုက်ခြင်း ဖြစ်လေသည်။

စင်စစ်၌ကား ၎င်းတို့၏ အဖြေများသည် တစ်ခုမျှ မဟုတ်ကြချေ။ မီးရထား ရွေ့လျားခြင်းမှာ မီးရထား၏ ရွေ့လျားမှုနှင့် ပမာဏချင်းညီမျှသော အားတစ်ခု၏

တွန်းမှုကြောင့်သာ ဖြစ်လေသည်။

ပြည်သူလူထုများ၏ လှုပ်ရှားမှုကိုလည်း အလားတူ ဖော်ပြရမည်သာ ဖြစ်လေသည်။ ပြည်သူလူထုများ၏ လှုပ်ရှားမှု ဖြစ်ပေါ်လာခြင်းမှာ ၎င်းတို့၏ လှုပ်ရှားမှုကြီး တစ်ခုလုံးနှင့် ပမာဏချင်းညီမျှသော အင်အားစုတစ်ခု၏ တွန်းမှုကြောင့်သာ ဖြစ်လေသည်။

အမျိုးမျိုးသော ရာဇဝင်ဆရာတို့သည် ပြည်သူလူထု လှုပ်ရှားမှုကြီး၏ အကြောင်းတရားများကို ဖော်ပြကြရာ၌ အကြောင်းအမျိုးမျိုး၊ အင်အားစုအမျိုးမျိုးကို တွက်ချက်ပြ ကြလေသည်။ အချို့က လူစွမ်းကောင်းများ၏ တန်ဖိုး အာဏာကြောင့်ဟု ဆို၏။ ဤအဖြေသည် နတ်တို့၏ တန်ခိုးဣဒ္ဓိပါဒ်ကြောင့် မီးရထားရွေ့လျားဖြစ်သည်ဟူ သော ပထမလယ်သမား၏အဖြေနှင့် တူ၏။ အချို့က အခြားအခြားသော ပုဂ္ဂိုလ်တို့၏ ဆောင်ရွက်ချက်များ ကြောင့်ဖြစ်သည်ဟု ဆိုကြ၏။ ဤအဖြေသည် ဘီးများ လည်ပတ်ခြင်းကြောင့် မီးရထားရွေ့လျားခြင်း ဖြစ်သည် ဟူသော ဒုတိယလယ်သမား၏ အဖြေနှင့်တူ၏။ အချို့က အသိပညာတိုးတက်ရေး ဆောင်ရွက်ချက်ကြောင့်ဟု ဆို ကြ၏။ ဤအဖြေကား လေတိုက်ရာ လွင့်ပါသွားသော မီးခိုးများကြောင့် မီးရထားရွေ့လျားခြင်း ဖြစ်သည်ဟူသော တတိယလယ်သမား၏ အဖြေနှင့် တူလေသည်။ စင်စစ် ၌ကား ၎င်းတို့ဖော်ပြသော အကြောင်းတရားများ၊ အင်အား စုများသည် ပြည်သူလူထု၏ လှုပ်ရှားမှုကြီးနှင့် ပမာဏချင်း မတူကြချေ။ ၎င်းတို့ပြသော အကြောင်းတရားများက ပမာဏသေးငယ်လျက် ပြည်သူလူထု လှုပ်ရှားမှုကြီးက ပမာဏကြီးထွားလျက် ရှိလေသည်။

ဂျူးလီယက်ဆီဇာ၊ အလက်ဇန်းဒရား၊ မာတင် လူသာ၊ ဗောလ်တဲယား စသည့် ပုဂ္ဂိုလ်များအကြောင်း လောက်ကိုသာ စာတစ်စောင် ပေတစ်ဖွဲ့ ပြုစုရေးသားလျက် ရှိသမျှကာလပတ်လုံး အဖြစ်အပျက်တစ်ခုတွင် ကိုယ်တိုင် ကိုယ်ကျ ပါဝင်

ဆောင်ရွက်သူတို့ အားလုံးအကြောင်းကို တစ်လုံးတစ်ပါဒမျှ ရေးသားဖော်ပြခြင်းမပြုသမျှ ကာလ ပတ်လုံး လူ့လောကကြီး၏ လှုပ်ရှားမှုကို ယထာဘူတကျ စွာ၊ မှန်ကန်စွာ ဖော်ပြနိုင်လိမ့်မည် မဟုတ်ချေ။ ဖော်ပြပြန် လျှင်လည်း ၎င်းတို့သည် တစ်စုံတစ်ခုသော အင်အားစု၏ စေ့ဆော်ချက်ကြောင့်သာ လူ့လောကကြီးတွင် လှုပ်ရှားမှု ဖြစ်ပေါ်လာခြင်းဖြစ်သည်ဟု အမှားမှားအယွင်းယွင်း ဖော် ပြကြလိမ့်မည်သာ ဖြစ်ပေသည်။ ထိုအင်အားစုမှာလည်း အခြားမဟုတ်။ တန်ခိုးအာဏာသာ ဖြစ်သည်ဟု ဆိုကြလိမ့် မည်သာ ဖြစ်ပေသည်။ ရာဇဝင်ဆရာများသည် တန်ခိုးအာဏာဆိုသော အင်အားစုမှအပ အခြား မည်သည့်အရာကို မျှ မသိကြချေ။

ရာဇဝင်ဆရာများသည် ဤအယူအဆကို“လက်က တုံးတောင်ဝှေး´ပြုကာ ရာဇဝင်ကျမ်းများကို ရေးသားပြုစု ခဲ့ကြခြင်း ဖြစ်၏။ ဘတ်ကယ်ကဲ့သို့သော ရာဇဝင်ဆရာ များသည် ဤ “တောင်ဝှေး”ကို ရိုက်ချိုးပစ်ခဲ့ကြလေသည်။ သို့ရာတွင် “တောင်ဝှေး´သစ် အစားမရှာနိုင်သောအခါ၌ ကား ၎င်းတို့အဖို့ တစ်ချောင်းတည်းသော ရှိပြီးသော “တောင်ဝှေး’ ဆုံးရှုံးခြင်းသာ အဖတ်တင် ကျန်ရစ်ခဲ့ကြရာ လေသည်။ ကမ္ဘာ့ရာဇဝင်ဆရာများနှင့် ယဉ်ကျေးမှု ရာဇဝင် ဆရာများသည် တန်ခိုးအာဏာကြောင့် ရာဇဝင်အဖြစ် အပျက်များ ပေါ်ပေါက်လာခြင်းဖြစ်သည်ဟူသော အယူ အဆကို လက်မခံဟု ပါးစပ်က တဖွဖွအော်ကြသော်လည်း နောက်ထပ် အယူအဆသစ် အစားမဆိုးနိုင်သောအခါ ထိုအယူအဆဟောင်းကိုပင် ပြန်၍လက်ခံကြရသည်သာ ဖြစ်လေသည်။ ဤသို့ဖြင့် ရာဇဝင်အဖြစ်အပျက်များကို ဖော်ပြရာ၌ ထိုအယူအဆဟောင်းသည် မည်မျှအရေးကြီး ၍မည်မျှလိုအပ်ကြောင်းကို ၎င်းတို့ကိုယ်တိုင် အကောင်း ဆုံး သက်သေခံလျက် ရှိကြပေသည်။

လူ့လောကကြီး၏ မေးခွန်းကို ဖြေဆိုရာ၌ ယနေ့ အထိ ပေါ်ပေါက်ခဲ့သော ရာဇဝင်သိပ္ပံပညာသည် လှည့်ပတ် သုံးစွဲလျက်ရှိသော ပိုက်ဆံနှင့် အလားသဏ္ဍာန်တူလေ သည်။ လှည့်ပတ်သုံးစွဲလျက်ရှိသော ပိုက်ဆံ၌ ငွေစက္ကူ နှင့် ဒင်္ဂါးဟူ၍ နှစ်

မျိုးရှိ၏။ အတ္ထုပ္ပတ္တိများကို ဖော်ပြ သည့် ရာဇဝင်ကျမ်းများနှင့် လူမျိုးတစ်မျိုး အကြောင်းကို သီးသန့်ဖော်ပြသည့် ရာဇဝင်ကျမ်းများသည် ငွေစက္ကူ နှင့်တူပေသည်။ ငွေစက္ကူ၏ နောက်ကွယ်၌ မည်သည့် ကျောထောက်နောက်ခံမျိုး၊ မည်သည့် အာမခံမျိုးရှိသည်ကို မသိကြသေးသမျှ ထိုငွေစက္ကူသည် အသုံးဝင်သည်သာ . ဖြစ်၏။ တန်ဖိုးရှိသည်သာဖြစ်၏။ ရောင်းဝယ်တာ ကိစ္စများကို ပြီးမြောက်နိုင်သည် သာဖြစ်၏။ ထို့အတူ လူစွမ်းကောင်းများ၏ တန်ခိုးအာဏာကြောင့် ရာဇဝင် ( အဖြစ်အပျက်များ ပေါ်ပေါက်လာသည်ဆိုလျှင် မည်သို့ မည်ပုံ ပေါ်ပေါက်စေနိုင် သနည်းဟု ဆက်လက်စူးစမ်းခြင်း မပြုကြသေးသမျှ သိုင်းလေ့စ် ရာဇဝင်ကျမ်း ကဲ့သို့သော အတ္ထုပ္ပတ္တိဆိုင်ရာ ရာဇဝင်ကျမ်းများနှင့် လူမျိုးတစ်မျိုး အကြောင်းကို ဖော်ပြသော ရာဇဝင်ကျမ်းများသည် စိတ်ဝင် စားဖွယ်ကောင်းသည်သာ ဖြစ်၏။ လေ့လာမှတ်သားဖွယ် ကောင်းသည်သာ ဖြစ်၏။ ထိုမျှမက လင်္ကာရရသနှင့် ပြည့်စုံသည်သာ ဖြစ်၏။ သို့ရာတွင် ငွေစက္ကူသည် လုပ်ရလွယ်ခြင်း၊ ငွေစက္ကူများ အများအပြားထုတ်ဝေ သဖြင့် ငွေစက္ကူဖောင်းပွလာခြင်း၊ ငွေစက္ကူလက်ဝယ် ရှိသူများက ထိုငွေစက္ကူကို ရွှေဖြင့်လဲလှယ်လျက်ရှိခြင်း စသည့် အခြင်းအရာတစ်ခုခု ကို ကျွန်ုပ်တို့သိမြင်လာသည့် အခါ၌ကား ကျွန်ုပ်တို့သည် ထိုငွေစက္ကူ၏ တန်ဖိုးကို သံသယ ဖြစ်လာခဲ့လေပြီ။ ထို့အတူပင် အဆိုပါရာဇဝင် ကျမ်းများ ပလူပျံအောင် ပေါများလျက်ရှိခြင်း၊ ရာဇဝင် လေ့လာလိုက်စားသူတို့၏ စိတ်၌လည်း "နပိုလီယန် သည်  မည်သည့်တန်ဖိုးအာဏာဖြင့် ဤအဖြစ်အပျက်များကို ပေါ် ပေါက်စေ သနည်း"ဟု စူးစမ်းလာခြင်း၊ ဤသို့ဖြင့် ငွေစက္ကူ တည်းဟူသော "တောရမ်းမယ် ဘွဲ့"

"ရာဇဝင်ကျမ်းအဆို အမိန့်များကို ရွှေတည်းဟူသော လေးနက်သည့် အဆင်ခြင် ဉာဏ်ဖြင့် လဲလှယ်ခြင်း စသည့် အခြင်းအရာတစ်ခုခုသို့ ပေါ်ပေါက်လာ

သည့်အခါ၌ကား ကျွန်ုပ်တို့သည် ထိုရာဇဝင် ကျမ်းများ၏ တန်ဖိုးကို သံသယ ဖြစ်လာခဲ့ကြသည်သာ - ဖြစ်လေသည်။

ကမ္ဘာ့ရာဇဝင်ဆရာနှင့် ယဉ်ကျေးမှုရာဇဝင်ဆရာ များသည် အမျိုးသား ရာဇဝင်ဆရာများ ရေးသားပြုစုသည့် ရာဇဝင်ကျမ်းများ၏ အပြစ်အနာများကို မြင်သည်၌ ယဉ်ကျေးမှုရာဇဝင်ကျမ်းများနှင့် ကမ္ဘာ့ရာဇဝင်ကျမ်းဆို သည့် အရာ များကို ရေးသား၍ အစားထိုးကြ၏။ ၎င်းတို့ သည် ငွေစက္ကူစနစ်၏ ချွတ်ယွင်းချက် ကို မြင်သည်၌ ငွေစက္ကူစနစ်ကို ရုပ်သိမ်းပြီးနောက် ရွှေအလေးချိန် မပါ သည့် သတ္တုတစ်မျိုးကို ဒင်္ဂါးသွန်းလုပ်၍ ပိုက်ဆံအဖြစ် သုံးစွဲစေသော ပိုက်ဆံ ထုတ်လုပ်သူများနှင့် အလားသဏ္ဌာန် တူပေသည်။ သတ္တုများဖြင့် အစားထိုးသွန်း လုပ်သော ဒင်္ဂါးသည် ချွင်ချွင်မြည်သံကို ပြုမည်ဖြစ်သော်လည်း ထိုသို့ ချွင်ချွင်မြည် သံပြုခြင်းမှအပ အခြားဘာမှ အသုံးမဝင် ချေ။ မသိနားမလည်သူတို့သည် ငွေစက္ကူ ကို အဟုတ်ထင် ကောင်း ထင်ကြဦးမည်ဖြစ်သော်လည်း ချွင်ချွင်မြည်သံ ကို ပြုခြင်း မှအပ အခြားဘာမျှ အသုံးကျခြင်းမရှိသော သတ္တုပြားကလေးကိုမူ မည်သူကမျှ အဟုတ်ထင်ကြမည် မဟုတ်ချေ။ သို့ဖြစ်ရကား ရွှေသည် ပစ္စည်းအချင်းချင်း ဖလှယ်ရေးတွင်သာမက ၎င်းကိုယ်နှိုက်က အသုံးကျမှသာ ရွှေဖြစ်သကဲ့သို့ ကမ္ဘာ့ ရာဇဝင်ဆရာများသည်လည်း တန်ခိုး အာဏာဟူသောအရာသည် မည်သည့်အရာ နည်းဟူသော ရာဇဝင်၏အဓိက မေးခွန်းကြီးကို ဖြေဆိုနိုင်မှသာလျှင် တန်ဖိုးရှိ လိမ့်မည် ဖြစ်ပေသည်။ ထိုအမေးကို ဖြေဆိုကြရာ၌ ကမ္ဘာ့ရာဇဝင်ဆရာ များသည် တစ်ယောက် တစ်ပေါက် ဖြေဆိုကြ၍ ယဉ်ကျေးမှုရာဇဝင်ဆရာများက ထိုအဖြေ ကို ဖြေဆိုခြင်းမပြုဘဲ တလွဲဖြေဆိုလျက် ရှိကြလေသည်။

လောက၌ ရွှေတု၊ ရွှေလိမ်၊ ရွှေရည်စိမ်များသည် ရွှေ အကြောင်း ကောင်းစွာမ သိသူများအဖို့၌သာ အသုံးဝင်လိမ့် မည်ဖြစ်ပေသည်။ သို့မဟုတ်လျှင်လည်း ရွှေဟု အသိအမှတ်  ပြုရန် နှစ်ဖက်သဘောတူမှသာ အသုံးဝင်လိမ့်မည်ဖြစ်ပေ သည်။

အလားတူပင် လူ့လောကကြီး၏ အဓိကမေးခွန်း ကို ဖြေဆိုခြင်းမရှိသော ကမ္ဘာ့ရာဇဝင်ဆရာများနှင့် ယဉ် ကျေးမှုရာဇဝင်များသည်လည်း တက္ကသိုလ်ကျောင်းနှင့် "လေးနက်စွာ စဉ်းစားရသော စာပေကျမ်းဂန်"ဆိုသည့်အရာ များကို ဖတ်လိုသည် ဟုဆိုသော ပညာတတ်ဟန်ဆောင်သူ လူ့ အချို့အဖို့သာ အသုံးဝင်လိမ့်မည် ဖြစ်ပေသတည်း။

# အခန်း ၄

ရှေးဟောင်း ရာဇဝင်ဆရာတို့၏အမြင်၌ လူမျိုးတစ်မျိုးက လူတစ်ယောက်၏ ဩဇာအာဏာကို နာခံခြင်းမှာ ဘုရား သခင်၏ စေခိုင်းချက်ကြောင့်ဖြစ်သည်။ ထို လူ၏ တန်ခိုး အာဏာကိုလည်း ဘုရားသခင်က ဖန်ဆင်းပေးခဲ့သည်ဟု ယူဆခဲ့ကြသည်။ ခေတ်သစ်ရာဇဝင်သည် ဤရှေးဟောင်း ရာဇဝင်အယူအဆကို ပယ်ခဲ့ပြီးဖြစ်၏။ သို့ရာတွင် ၎င်း ( ကိုယ်တိုင်ကား ရာဇဝင်အယူအဆသစ်တစ်ရပ်ကို အစားမထိုးနိုင်ခဲ့သေးချေ။ သို့ဖြစ်လျှင် ခေတ်သစ်ရာဇဝင်သည် ရာဇဝင်ပြဿနာများကို မည်သို့ကိုယ်တွယ်မည်နည်း။ မည်သို့သုံးသပ်မည်နည်းဟူသောမေးခွန်း ပေါ်လာ၏။ ကျွန်ုပ်၏အမြင်၌ကား ခေတ်သစ်ရာဇဝင်အဖို့ လမ်းနှစ် လမ်းသာရှိပါသည်။ တစ်လမ်းမှာ ရှေးဟောင်း အယူအဆ ကို ပြန်၍လက်ခံရန် ဖြစ်၏။ (ဝါ) ဘုရားသခင်သည် လူမှုလောကီကိစ္စများတွင် တိုက်ရိုက် ဝင်ရောက်စွက်ဖက် လျက်ရှိသည် ဟူသော အယူအဆသို့ နောက်ကြောင်းပြန် ရန်ဖြစ်၏။ အခြားလမ်းကား ရာဇဝင်အဖြစ်အပျက်များ ကို ပေါ်ပေါက်စေသည်ဟုဆိုသော "တန်ခိုးအာဏာ" ဟူ သော အင်အားစု၏အဓိပ္ပာယ်ကို ရှင်းလင်း ပြတ်သားစွာ ဖွင့်ဆိုရန် ဖြစ်လေသည်။

ခေတ်သစ်ရာဇဝင်သည် ပထမလမ်းသို့ ပြန်လိုက် ရန် မဖြစ်တော့ချေ။ ၎င်း၏လက်ချက်ကြောင့် အယူအဆ ဟောင်းသည် "ဖွတ်ဖွတ်ကျေ"သည့်အဖြစ်သို့

ရောက်ခဲ့ရ လေပြီ။ သို့ဖြစ်ရကား ၎င်း၏ တစ်ခုတည်းသော လမ်း ကား တန်ခိုးအာဏာဆိုသောအရာသည် မည်သည့်အရာ နည်းဟု ရှင်းလင်းစွာ အဓိပ္ပာယ်ဖော်ပြရန်သာ ရှိတော့ သည်။  နပိုလီယန်သည် စစ်တပ်ကြီးတစ်တပ်ကို ဖွဲ့စည်း ရန်အမိန့်ပေးပြီးနောက် စစ်ကြီးချီခဲ့၏။ ကျွန်ုပ်တို့သည် ဤအဆိုအမိန့်မျိုးကို "နားယဉ်"လျက် ရှိပြီဖြစ်၏။ ဤ အတွေးအခေါ်မျိုးသည် ကျွန်ုပ်တို့၌ "အရိုးစွဲ"လျက် ရှိပြီဖြစ်၏။ ထို့ကြောင့် နပိုလီယန်က စကားအနည်းငယ် ပြောရုံမျှဖြင့် မည်သည့်အတွက်ကြောင့် လူပေါင်း ခြောက် သိန်းတို့က စစ်ထွက်ကြသနည်းဟူသော မေးခွန်းမျိုးကို ကြားလိုက်ရသည့်အခါ၌ ထိုမေးခွန်းသည်ပင် အဓိပ္ပာယ် မရှိသယောင်ထင်ကြပေလိမ့်မည်။ "ဟယ် လူမိုက်၊ ညံ့ဖျင်း စွတကား။ နပိုလီယန်၌ တန်ဖိုးအာဏာရှိ၏။ ထို့ကြောင့် ၎င်းစေခိုင်းသမျှပြုရ၏။ သင်နားလည်သလော" ဟုပင် . ပြစ်တင်ရှုတ်ချမိကြလိမ့်မည်။

နပိုလီယန်၌ ဘုရားသခင်ပေးသော တန်ခိုးအာဏာ ရှိသည်ဟူသော ရှေးဟောင်းအယူအဆ ယုံကြည်ကြလျှင် ကား အထက်ပါအဖြေသည် ရှင်း၏။ မည်သို့မျှ ပြောဖွယ် မရှိတော့ချေ။ သို့ရာတွင် နပိုလီယန်၌ ဘုရားသခင်ပေး သောအာဏာရှိသည်ဟူ၍ ကျွန်ုပ်တို့ မယုံကြည်ချေ။ သို့ဖြစ်လျှင် လူတစ်ယောက်က အခြားလူပေါင်းများစွာကို လွှမ်းမိုးစေနိုင်သည့်အာဏာဆိုသော အရာသည် မည်သည့် အရာနည်း။

လူပျော့တစ်ယောက်ကို အလွယ်ကလေး အနိုင်ယူ နိုင်သည့် လူသန်ကြီးတစ်ယောက်ကဲ့သို့ ခွန်အားဗလ ကောင်းခြင်း၊ ဟာကျူလီ၏ ခွန်အားဗလမျိုးဖြင့် အနိုင်အထက် ခြိမ်းခြောက်လွှမ်းမိုးခြင်းကို အာဏာဟု ခေါ်မည် လော၊ မဟုတ်ချေ။ သို့မဟုတ်လျှင် အချို့ ရာဇဝင်ဆရာတို့ တွေးကြ၊ ရေးကြသကဲ့သို့ ထူးခြားသော စိတ်တန်ခိုးသတ္တိ၊ ဘုန်းတန်ခိုး ပါရမီဉာဏ် စသည်တို့နှင့် ပြည့်စုံသည့် ရာဇဝင်

လူစွမ်းကောင်းဆိုသူများ၏ စာရိတ္တဗလအရာတွင် သာလွန်းခြင်းကိုသာ အာဏာဟု ခေါ်မည်လော။ ဤသို့ လည်း မဟုတ်နိုင်သေးချေ။ အာဏာရှိခြင်း မရှိခြင်းသည် စာရိတ္တအရာ၌ သာလွန်ခြင်း၊ ညံ့ဖျင်းခြင်းအပေါ်တွင် မတည်ချေ။ စာရိတ္တဗလ အရာ၌ သာလွန်ခြင်းကြောင့် အာဏာရှိသည်ဟုသာ ပြောကြစတမ်းဆိုလျှင် သန်း ပေါင်း များစွာသော ပြည်သူတို့ကို အုပ်စိုးခဲ့သည့် ၁၁- ကြိမ်မြောက် လူဝီဘုရင်နှင့် မက်တာနစ် စသူတို့သည် စာရိတ္တအရာ၌ ခြောက်ပြစ်ကင်း သဲလဲစင်တွေချည်း ဖြစ် နေကြပေလိမ့်   မည်။ ယခုကား ၎င်းတို့သည်လည်း ခြောက်ပြစ်ကင်း သဲလဲ စင်များ မဟုတ်ကြချေ။ ထူးခြားသည့် စာရိတ္တအရည်အချင်း ဟူ၍ မရှိရုံမျှမက ၎င်းတို့သည် သန်းပေါင်းများစွာသော အခြယ်အလှယ်ခံ၊ အအုပ်စိုးခံ၊ ပြည်သူလူထုထဲက ပြည်သူ တစ်ယောက်ထက်ပင် စာရိတ္တအရာ၌ ညံ့ဖျင်းနုံနဲ့လျက်ရှိ ခြင်းကို တွေ့ရပေသည်။ ဤသည်ကို ရာဇဝင်က ပြသခဲ့ ပြီး ဖြစ်လေသည်။ ခု နပိုလီယန်ကဲ့သို့ ပုဂ္ဂိုလ်မျိုးကို ကား ဆိုဖွယ်မရှိတော့ချေ။ ၎င်း၏ အကျင့်စာရိတ္တနှင့်စပ်လျဉ်း ၍ ကောင်းသည် ဆိုသည် စသဖြင့် ယခုတိုင် ဝိဝါဒကွဲပြား လျက်ရှိသည် မဟုတ်လော။

အာဏာဟူသည် ခွန်အားဗလ ကြီးထွားခြင်း၌ လည်း မတည်။ စာရိတ္တဗလ သာလွန်ခြင်း၌လည်းမတည်။ အုပ်စိုးသူနှင့် အုပ်စိုးခြင်းခံရသူတို့၏ ဆက်ဆံ ရေး၌တည် သည်ဟု တရားဥပဒေဆိုင်ရာ သိပ္ပံပညာက ဆိုပြန်၏။ တရားဥပဒေ သိပ္ပံပညာသည် အာဏာနှင့် စပ်လျဉ်းသည့် ရာဇဝင်၏ ရှုမြင်ချက်တည်းဟူသော ငွေစက္ကူကို ရွှေစစ်၊ ရွှေမှန်နှင့် လဲလှယ်ပေးသော လဲလှယ်ရေးဘဏ်တိုက်ကြီး သဖွယ် ဟန်ရေးပြလေ့ရှိ၏။

တရားဥပဒေ သိပ္ပံပညာ၏ အလိုအရ အာဏာဟူ သည်အခြားမဟုတ်။ ပြည်သူလူထုများက ၎င်းတို့ရွေးချယ် ထားသော အုပ်စိုးသူများထံ ထုတ်ဖော်၍ဖြစ်စေ၊ ထုတ် ဖော်ခြင်းမပြုဘဲဖြစ်စေ သဘောတူညီချက်ဖြင့် နှင်းအပ် ထားသော ပြည်သူလူထု၏ဆန္ဒကို ခေါ်ဆိုခြင်းဖြစ်လေ သည်။

တရားဥပဒေဆိုင်ရာ သိပ္ပံပညာ၏အလုပ်မှာ နိုင်ငံ အစိုးရတစ်ဖွဲ့နှင့် အာဏာဆိုသည့်အရာတို့ကို မည်သို့ မည်ပုံ စီမံခန့်ခွဲသင့်ကြောင်း တင်ပြဆွေးနွေးရန်ဖြစ်၏။ ထို့ကြောင့် အာဏာသည် မည်သည့်အရာနည်းဆိုသည့် ပြဿနာသည် တရားဥပဒေဆိုင်ရာ သိပ္ပံပညာ၏ နယ်ပယ် ၌ အလွန်ရှင်းလင်း၏။ သို့ရာတွင် ရာဇဝင်သိပ္ပံပညာ၏ နယ်ပယ်၌ကား အာဏာဟူသော ထိုစကား၏ အနက် အဓိပ္ပာယ်ကို ရှင်းလင်းဖော်ပြရန် လိုအပ်လာပေသည်။

တရားဥပဒေဆိုင်ရာ သိပ္ပံပညာသည် နိုင်ငံအစိုးရ နှင့်အာဏာကို ပြောင်းလဲခြင်း မရှိသောအရာ၊ ဖောက်ပြန် ခြင်းမရှိသောအရာ၊ ထာဝရမှန်ကန်သောအရာ၊ အကြွင်းမဲ့ တင်ရှိသောအရာဟု ယူဆ၏။ ၎င်း၏ယူဆပုံမှာ ကမ္ဘာဦး  သူတို့သည် မီးကို ယုံကြည်ကိုးကွယ်ကြပုံမျိုး ဖြစ်၏။ သို့ရာတွင် ရာဇဝင်သိပ္ပံပညာ၏ အမြင်၌ကား နိုင်ငံအစိုးရ နှင့် အာဏာသည် ခေတ်၏အခြေအနေကိုလိုက်၍ ပြောင်း လဲလျက်ရှိသော အခြင်းအရာတစ်ခုဟု ယူဆလေသည်။ ခေတ်သစ် ရူပဗေဒ၌ မီးသည် ပြောင်းလဲဖောက်ပြန်ခြင်း မရှိသော မူလဘူတဓာတ်ကြီးတစ်ပါး မဟုတ်မူ၍ အမြဲ တစေ ပြောင်းလဲလျက်ရှိသော ရုပ်၏အခြင်းအရာတစ်ရပ် အဖြစ် ယူဆသကဲ့သို့တည်း။

အစိုးရနှင့် အာဏာကို ကြည့်မြင်ရာ၌ တရားဥပဒေ ဆိုင်ရာ သိပ္ပံပညာနှင့် ရာဇဝင်သိပ္ပံပညာတို့သည် ဤသို့ အခြေခံအားဖြင့် ကွဲပြားလျက် ရှိကြ၏။ အာဏာဟူသော အရာသည် ခေတ်ကို လိုက်လျောခြင်းမရှိ။ ပတ်ဝန်းကျင် ကို ဩဇာခံခြင်းလည်း မရှိ။ ပြောင်းလဲခြင်းလည်း မရှိ ကြောင်း၊ အာဏာ၌ မည်သည့်တရားဥပဒေဆိုင်ရာ သိပ္ပံ ပညာသည် အသေးစိတ် ရှင်းလင်းဖော်ပြ၏။ ထို့ကြောင့် အာဏာသည် ခေတ်နှင့်အညီ လိုက်၍ပြောင်းလဲရသည် မဟုတ်လောဟု အချက်အလက်တို့ကို ထောက်ပြ၍ မေးမြန်းသော ရာဇဝင်၏မေးခွန်းကို အဆိုပါ တရားဥပဒေ သိပ္ပံပညာသည် ဖြေဆိုနိုင်ခြင်းမရှိချေ။

အာဏာသည် ရွေးချယ်တင်မြှောက်ထားသော အုပ်စိုးသူများထံ ပြည်သူများ က အပ်နှင်းထားသည့် ပြည် သူတို့၏ တစ်ခဲ နက်သောဆန္ဒဟု တရားဥပဒေဆိုင်ရာ သိပ္ပံပညာက ဆိုခဲ့၏။ ထိုအတိုင်းသာဆိုလျှင် အာဏာရသူ တိုင်းသည် ပြည်သူတို့၏ ဆန္ဒနှင့်ကိုက်ညီသော ပြည်သူ့ ကိုယ်စားလှယ်များဖြစ်သည်ဟု မှတ်ယူရတော့မည် လော။ အာဏာရသူတိုင်းသည် ပြည်သူလူထု၏ ကိုယ်စားလှယ် များဟု ဆိုရတော့ မည်လော။ သို့ဖြစ်လျှင် ကတ်သရင်း ဘုရင်မကြီး၏ လက်ထက်တော်၌ ပုန်ကန် ထကြွ၍အာဏာ သိမ်းခဲ့ပြီးနောက် ပြည်သူများကို နှိပ်စက်သတ်ဖြတ်ခဲ့သော ကော့ ဆက်လယ်သမားသူပုန်ခေါင်းဆောင် ပူဂါချေ့သည် ပြည်သူတို့၏ ကိုယ်စားလှယ် တစ်ဦး ဖြစ်ပါသလော။ တစ်ပါးနိုင်ငံများကို ကျူးကျော်စော်ကား ကျွန်ပြုခဲ့သော န ပိုလီယန်သည်လည်း အကျူးကျော်ခံ ပြည်သူများ၏ ကိုယ်စားလှယ်တစ်ဦး ဖြစ်နိုင် ပါသေးသလော။ အာဏာ သည် ပြောင်းလဲခြင်းမရှိ၊ ဖောက်ပြန်ခြင်း မရှိဟုဆိုလျှင် မည်သည့်အတွက်ကြောင့် တတိယမြောက် နပိုလီယန်သည်  ဘုရင်ဧကရာဇ်ဘဝ မှ ရာဇဝတ်ကောင် ဖြစ်ခဲ့ရသနည်း။ တတိယမြောက် နပိုလီယန်၏လက်၌ အကျဉ်းခံနေရသော ရာဇဝတ်သားများသည်လည်း မည်သည့်အတွက်ကြောင့် အုပ်စိုးသူများ ဖြစ်လာခဲ့ကြသနည်း။

လူနှစ်ယောက်၊ သုံးယောက်ဖြင့်သာ အာဏာသိမ်း လေ့ရှိသော နန်းတွင်း တော်လှန်ရေးများသည် ပြည်သူလူထု ၏ ဆန္ဒနှင့် ကိုက်ညီပါသလော။ နန်းတွင်း တော်လှန်ရေး များဖြင့် အာဏာသိမ်းနိုင်သူတို့အား ပြည်သူလူထု၏ ဆန္ဒကို ကိုယ်စားပြုနေမည်ဟု ဆိုရတော့မည်လော။ အခြား လူမျိုးတစ်မျိုး၏ လက်အောက်၌ စစ်ရှုံး၍ ကျွန်ခံရခြင်း မျိုးကို ပြည်သူလူထု၏ဆန္ဒနှင့် ကိုက် ညီသည်ဟု ပြောကြ မည်လော။ ၁၈၀၈- ခုနှစ်တွင် ပေါ်ပေါက်ခဲ့သော ရိုင်း မြစ်ဝှမ်း ပြည်ထောင်စုနယ်များသည် နပိုလီယန်ကို ပြည်သူ လူထုက တစ်ခဲနက်ဆန္ဒပြုသ ဖြင့် ပေါ်ပေါက်လာခဲ့ခြင်း ဖြစ်သည်ဟု ဆိုကြမည်လော။ ၁၈၀၉- ခုနှစ်၌ ဖြစ်ပျက်

ခဲ့သော အဖြစ်အပျက်များသည် နပိုလီယန်ကို ရုရှားပြည် သူများက တစ်ခဲနက်ဆန္ဒ ပေးလိုက်၍ ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟု ဆိုကြမည်လော။

ဤမေးခွန်းနှင့် စပ်လျဉ်း၍ ရာဇဝင်ဆရာတို့က သုံးမျိုးသုံးစား ဖြေကြ၏။

(၁) ပြည်သူလူထုသည် မိမိတို့ ရွေးချယ်ထားသော အုပ်စိုးသူ (သို့မဟုတ် အုပ်စိုးသူများ) ကို ခြွင်းချက်မရှိ ဆန္ဒအပ်နှင်းပြီး ဖြစ်သည်။ ထို့ကြောင့် အာဏာ ဟောင်းကို ဖြိုချခြင်း၊ အာဏာသစ်တက်လာခြင်း၊ ထိုအာဏာကို ထောင်ထားခြား နားခြင်း မှန်သမျှတို့ကို တကယ်စစ်မှန် သော အာဏာကို ဖီဆန်တော်လှန်ခြင်းဟူ၍ အကြွင်းမဲ့ မှတ်ယူအပ်သည်။

(၂) ပြည်သူလူထုသည် အုပ်စိုးသူများကို ခြွင်းချက်' ဖြင့် ဆန္ဒအပ်နှင်းခြင်း ဖြစ်သည်။ ကျွန်ုပ်တို့ သိပြီးသား ဖြစ်သော တိကျသော စည်းကမ်းများသတ်မှတ်၍ ဆန္ဒ အပ်နှင်းခြင်းဖြစ်သည်။ ဤသို့ဖြင့် ထိုစည်းကမ်းများကို အုပ်စိုးသူများက ဖောက်ဖျက်ခြင်း ရှိမရှိ၊ အာဏာကို အလွဲသုံးစား ပြုမပြုစောင့်ကြည့်သည်။

(၃) ပြည်သူလူထုသည် အုပ်စိုးသူများကို စည်းကမ်းများကို ကျွန်ုပ်တို့ နားလည်နိုင်စွမ်းမရှိ၊ တိကျ စွာဖော်ပြခြင်းငှာ မစွမ်း။ စင်ပြိုင်အာဏာများ ပေါ်ပေါက် လာခြင်း၊ အာဏာလုပွဲများ ဖြစ်ပွားခြင်း၊ အုပ်စိုးသူများ ပြုတ်ကျခြင်း စ သည့်ကိစ္စများသည် ကျွန်ုပ်တို့ နားလည် နိုင်စွမ်းမရှိသော၊ အတိအကျဖော်ပြခြင်း မ ပြုနိုင်သော ထိုခြွင်းချက် စည်းကမ်းများကို အုပ်စိုးသူများက မည်မျှ လိုက်နာသည်၊ မလိုက်နာသည် ဆိုသည့်အချက်ပေါ်တွင် တည်၍ ပေါ်ပေါက်လာခြင်းဖြစ်သည်။

ဤကား အုပ်စိုးသူများနှင့် အုပ်စိုးခြင်းခံရသူ ပြည်သူများ မည်သို့မည်ပုံ ဆက် သွယ်နေကြောင်းကို ဖော်ပြသည့် ရာဇဝင်ဆရာတို့၏ အဆိုအမိန့်သုံးမျိုးတို့ ဖြစ်၏။

အချို့သော ရာဇဝင်ဆရာများသည် (၎င်းတို့မှာ အထက်တွင် ဖော်ပြခဲ့သည့် အတ္တုပတ္တိရာဇဝင်ဆရာများနှင့် အမျိုးသားရာဇဝင်ဆရာတို့ ဖြစ်၏။) အာဏာ၏ အဓိပ္ပာယ် ကို တကယ်ပင် ရေရာစွာနားလည်ခြင်း မရှိကြချေ။ ၎င်း တို့ စိတ်၌ ရာဇဝင်ကျော် ပုဂ္ဂိုလ်များထံတွင် ပြည်သူလူထု ၏ တစ်ခဲနက်ဆန္ဒကို ခြွင်းချက်မရှိ အပ်နှင်းလိုက်ခြင်းကို အာဏာဟု ယူဆနေကြရာ၏။ ထို့ကြောင့် နိုင်ငံ အစိုးရ တစ်ခု၏အကြောင်းကို ဖော်ပြသောအခါ၌ ၎င်းတို့သည် တစ်စုံတစ်ခုသော အာဏာကိုသာ တကယ်စစ်မှန်သော အာဏာ၊ အကြွင်းမဲ့ဖြစ်သော အာဏာ၊ တစ်ခု တည်းသော အာဏာအဖြစ် အထင်ရောက်လျက်ရှိကာ ထိုအာဏာကို ဆန့်ကျင် သည့် အင်အားစုမှန်သမျှကို အာဏာဟု မယူဆ တော့ဘဲ အာဏာကိုဖီဆန်သည့် အင်အားစု၊ အဖျက်အင် အားစုဟုသာ သဘောထားကြသည်။

စင်စစ်၌ကား“အာဏာသည် တစ်ခုတည်း ဖြစ် သည်။ အကြွင်းမဲ့ ဖြစ်သည်”ဟူသော ၎င်းတို့၏ သဘော တရားသည် လူပေါ်စခေတ်နှင့်သာ သင့်တော်ပေသည်။ ငြိမ်းချမ်းသော ရာဇဝင်ခေတ်တစ်ခုနှင့်သာ သင့်တော်ပေ သည်။ စစ်ပြိုင်အာဏာများ “မှိုလိုပေါက်” လျက်ရှိ၍ တစ်ဖက်နှင့် တစ်ဖက် သူနိုင် ငါနိုင် အာဏာအလုပြိုင်ကြ သော ရှုပ်ထွေးပြင်းထန်သည့် ရာဇဝင်၏ မုန်တိုင်း ကာလမျိုး ၌ကား ၎င်းတို့၏ သဘောတရားသည် ခေတ်မမီတော့ချေ။ ဘာဘွန်း မင်းဆက်နှင့်တကွ ပြင်သစ်ဧကရာဇ်နိုင်ငံကြီးသာ လျှင် တကယ်စစ်မှန်သော အာဏာစက်ဖြစ်သည်ဟု တရား ဥပဒေသမား ရာဇဝင်ဆရာတစ်ယောက်က စစ် မှန်သော အာဏာစက် ဖြစ်သည်ဟု အခြားသမ္မတနိုင်ငံဘက်သား ရာဇဝင်ဆရာ တစ်ယောက်က တစ်နည်းရေးသား လာကြ ပြန်သောအခါ၌ကား ထိုသဘောတရား သည်လည်း “ခွ'ကျ လျက်ရှိပြန်လေသည်။ ဤသဘောတရားကို အခြေခံ၍ ( ရာဇဝင်အဖြစ်အပျက်များကို သူတစ်မျိုးငါတစ်ဖုံ ရှင်းတမ်း ထုတ်နေကြမည်ဆိုလျှင်

အဆိုပါ ရာဇဝင်ဆရာတို့၏ ရှင်းတမ်းကို သူငယ်နှပ်စားများကသာ ယုံကြည်ကြလိမ့် မည် ဖြစ်ပေသည်။

အချို့သောရာဇဝင်ဆရာတချို့ကမူ အထက်ပါ ရာဇဝင်သုံးသပ်ချက်ကို မှားယွင်းကြောင်း လက်ခံ၏။ အဆိုပါ ရှုမြင်ချက်ကို ငြင်းပယ်၏။ ၎င်းတို့က အာဏာ ဟူသည် ပြည်သူတို့က ၎င်းတို့၏ တစ်ခဲနက်ဆန္ဒကို အုပ်စိုးသူများထံ ခွင်းချက်ဖြင့်အပ်နှင်းခြင်းကို ခေါ်သည် ဟု ဆိုကြ၏။ ရာဇဝင်ဆရာကျော် ပုဂ္ဂိုလ်ကျော်များသည် ပြည်သူလူထုများက ထုတ်ဖော်ပြောဆိုခြင်းမရှိဘဲ သဘော တူညီချက်ဖြင့် ပြဋ္ဌာန်းပေးလိုက်သည့် လုပ်ငန်းစဉ်များကို ဆောင်ရွက်ခြင်း ပြုရမည် ဟူသော ခွင်းချက်ကို လိုက်နာ မှသာ အာဏာရှိသော ပုဂ္ဂိုလ်များအဖြစ်သို့ ရောက်လာ ကြသည် ဆိုကြ၏။ သို့ရာတွင် ထိုလုပ်ငန်းစဉ်များသည် မည်သို့သော လုပ်ငန်းစဉ်များ ဖြစ်သည်ကိုမူ 'ရာဇဝင်ဆရာ ၊ များက ထုတ်ဖော်ပြောဆိုခြင်း မပြုကြချေ။ ထုတ်ဖော် ပြောဆိုသည့်အခါ၌လည်း တစ်ယောက်တစ်မျိုး ကွဲပြား လျက်ရှိလေသည်။

အချို့သော ထိုလုပ်ငန်းစဉ်များသည် လူမျိုး၏ ဘုန်းလက်ရုံးကြီးကျယ်ရေး ဖြစ်သည်ဟု ဆိုကြ၏။ အချို့ က တိုင်းပြည် စည်ပင်ဝပြောရေးဟု ဆိုကြ၏။ အချို့ က လွတ်လပ်ရေးဟု ဆိုကြ၏။ အချို့က အသိပညာတိုးတက် ရေးဟု ဆိုကြ၏။ ဤသို့ဖြင့် ရာဇဝင်ဆရာများသည် လူမျိုးတစ်မျိုး၏ တိုးတက်ရေးနှင့် စပ်လျဉ်း၍ မည်သည့် လုပ်ငန်းစဉ်သာ မှန်သည်ဟု အယူအဆကွဲလျက် ရှိကြပြန် လေသည်။ ကောင်းပြီ။ ရာဇဝင်ဆရာအားလုံးတို့သည် လူမျိုးတစ်မျိုး၏ တိုးတက်ရာ တိုးတက်ကြောင်း လုပ်ငန်း စဉ်နှင့် စပ်လျဉ်း၍ တစ်သံတည်း တစ်ညီတည်း ရှိသည် - ပင်ထားပါဦး။ ယေဘုယျလုပ်ငန်းစဉ်တစ်ခု၌ ၎င်းတို့ပြော သည့် အချက်အလက်များ အားလုံး ပါဝင်သည် ထားပါဦး။ ၎င်းတို့၏ သဘောတရားသည် မမှန်သေးချေ။ မှားယွင်း လျက်ရှိကြောင်းကို ရာဇဝင်အဖြစ်အပျက်များက သက်သေ ပြခဲ့ပြီး ဖြစ်

လေသည်။ ၎င်းတို့ပြောသည့်အတိုင်း ပြည်သူ လူထုများ စည်ပင်ဝပြောရေး၊ လွတ်လပ်ရေး၊ အသိပညာ တိုးတက်ရေး စသည့်လုပ်ငန်းများကို ဆောင်ရွက်ပေး မည် ဟူသော စည်းကမ်းချက်များ၊ ခြွင်းချက်များဖြင့် အပ်နှင်း လိုက်သော လူထု၏ဆန္ဒကို အာဏာဟုခေါ်လျက် ဤလုပ် ငန်းစဉ်များကို ဆောင်ရွက်ခဲ့သော ၁၆- ကြိမ်မြောက် ပြင်သစ် လူဝီဘုရင်နှင့် ပထမအကြိမ်မြောက် အင်္ဂလိပ် ချားလ် ဘုရင်တို့ကို မည်သည့်အတွက်ကြောင့် ပြည်သူများ က သတ်ဖြတ်ခဲ့ကြသနည်း။ ရက်စက်စွာ အုပ်စိုးခဲ့သော ၁၄-ကြိမ်မြောက် လူဝီဘုရင်နှင့် ရုရှားဘုရင် ဂျွန်တို့ကိုမူ မည်သည့်အတွက်ကြောင့် သတ်ဖြတ်ခြင်း မပြုကြသနည်း။ ထိုအခါတွင် ရာဇဝင် ဆရာများက ၁၄-ကြိမ်မြောက် လူဝီ ဘုရင်၏ ဆောင်ရွက်ချက်များသည် လုပ်ငန်းစဉ်များနှင့် ဆန့်ကျင်သဖြင့် ၎င်း၏ တုံ့ပြန်လက်စားချေသည့်အနေ ဖြင့် ၁၆- ကြိမ်မြောက် လူဝီဘုရင်ကို သတ်ဖြတ်ခဲ့ခြင်း ဖြစ်သည်ဟုဆိုကြပြန်၏။ သို့ဖြစ်လျှင် ပြည်သူလူထု၏ တုံ့ပြန် လက်စားချေမှုသည် မည်သည့်အတွက်ကြောင့် ကာယကံရှင် ၁၄ - ကြိမ်မြောက် လူဝီဘုရင်အပေါ်သို့ မသက်ရောက်ခဲ့သနည်း။ သို့မဟုတ် ၁၅-ကြိမ်မြောက် လူဝီဘုရင်အပေါ်သို့ သက်ရောက်ခဲ့သနည်း။ ပြည်သူလူထု ၏ တုံ့ပြန်မှုသည် မည်သည့်အတွက်ကြောင့် ၁၆ -ကြိမ် မြောက် လူဝီ ဘုရင်ကိုမှ ရွေးချယ်သက်ရောက်ခြင်း ပြုရသ နည်း။ ထိုသို့သော တုံ့ပြန်မှုမျိုးကို မည်သို့ခေါ်ဆိုကြမည် နည်း။ ဤမေးခွန်းများကိုကား ရာဇဝင်ဆရာများသည် ဖြေ ဆိုခြင်း မပြုကြတော့ချေ။ ဖြေဆိုနိုင်စွမ်း မရှိကြတော့ ချေ။ အာဏာသည် အုပ်စိုး သူများထံ အပ်နှင်းထားသော ပြည်သူလူထု၏ တစ်ခဲနက်ဆန္ဒ ဖြစ်သည်ဟုဆိုလျှင် ထို တစ်ခဲနက်ဆန္ဒသည် မည်သည့်အတွက်ကြောင့် အချို့သော အုပ်စိုးသူများနှင့် ၎င်းတို့၏ သားစဉ်မြေးဆက်များထံ နှစ်ရာစုပေါင်းများစွာတည်နေသနည်း။ အုပ်စိုး သူ မင်းဆက် တစ်ခုတည်း၌ ပြည်သူလူထု၏ တစ်ခဲနက်ဆန္ဒသည် ဤမျှ နှစ်ပေါင်း များစွာကြာအောင် မည်သည့်အတွက် တည်ရှိနေသနည်း။ ဤမျှ ရှည်ကြာစွာ

တည်ရှိပြီးခါမှ အနှစ်ငါးဆယ်အတွင်း မည်သည့်အတွက်ကြောင့် အာဏာ သည် တစ်ယောက်တစ်လက် ချက်ချင်း ပြောင်းသွားရပြန် သနည်း။ တစ်ခါ၌ မင်းဆက် တစ်ဆက်တွင် နှစ်ပေါင်းများ ၁၅၀၁ စွာတည်ရှိ၍သာ ပြင်သစ်နိုင်ငံ၏ အာဏာ သည် အခြား အချိန်၌ အနှစ်ငါးဆယ်အတွင်းမှာပင် အမျိုးသားလွှတ်တော် ၏ လက် သို့လည်းကောင်း၊ ထိုမှတစ်ဖန် ငါးဦးအဖွဲ့သို့ လည်းကောင်း၊ ထိုမှတစ်ဖန် နပိုလီ ယန်လက်သို့လည်း ကောင်း၊ ထိုမှတစ်ဖန် အလက်ဇန်းဒရား လက်သို့လည်း ကောင်း၊ ထိုမှတစ်ဖန် နပိုလီယန်လက်သို့လည်းကောင်း၊ ထိုမှတစ်ဖန် ၁၈-ကြိမ် မြောက် ချားလ်ဘုရင် လက်သို့ လည်းကောင်း၊ ထိုမှတစ်ဖန် လူဝီဘုရင် လက်သို့ လည်း ကောင်း၊ ထိုမှတစ်ဖန် သမ္မတဂိုဏ်းအစိုးရ လက်သို့လည်း ကောင်း၊ ထိုမှ တစ်ဖန် တတိယ နပိုလီယန်လက်သို့လည်း ကောင်း မည်သည့်အတွက်ကြောင့် မကြာခဏ ပြောင်းလဲ နေသနည်း။ ပြည်သူလူထု၏ ဆန္ဒဆိုသည်မှာ တစ်ချိန်၌ လူ တစ်ဦးနှင့်တကွ ၎င်း၏ သားစဉ်မြေးဆက် လက်ထဲ၌ နှစ်ပေါင်းများစွာတည်၍ အခြားတချိန်၌ နှစ်ပေါင်း ငါးဆယ်မျှသော တိုတောင်းသည့်ကာလအတွင်း လူအ မျိုးမျိုးလက်သို့ မကြာခဏ ကူးပြောင်းတတ်သည့်သဘာဝ ရှိသလော။ ရာဇဝင် ဆရာများသည် ဤမေးခွန်းများကို လည်း ကျေနပ်အောင် ဖြေဆိုနိုင်ခြင်းမရှိချေ။ ဤတွင် ဤသို့အာဏာ အပြောင်းအလဲများဖြစ်ရခြင်း၊ စစ်ပွဲများ ဖြစ်ပွားခြင်း၊ မဟာမိတ်အဖွဲ့များ ပေါ်ပေါက်ရခြင်းတို့သည် ပြည်သူလူထု၏ ဆန္ဒကို နည်းမှန်လမ်းမှန် နှင်းအပ်ခြင်း ကြောင့် ပေါ်ပေါက်ခြင်းမဟုတ်ကြောင်း၊ ကောက်ကျစ်စဉ်း လဲခြင်း၊ ခြေလှမ်းမှားခြင်း သံတမန်များ၊ အုပ်စိုးသူများ၊ နိုင်ငံရေး ပါတီခေါင်းဆောင်များ၏ ညံ့ဖျင်းခြင်းတို့ကြောင့် မတော်တဆ ပေါ်ပေါက်လာသော အဖြစ်အပျက်မျိုးသား ဖြစ်ကြောင်းဖြင့် ရာဇဝင်ဆရာများကဆိုကြ၏။ ပြည်တွင်း စစ်များ၊ တော်လှန်ရေးများ၊ တစ်ပါးနိုင်ငံကို ကျွန်ပြုအုပ်စိုး သူများ စသည့် ရာဇဝင် အဖြစ်အပျက်များသည် ပြည်သူ တို့က ၎င်းတို့၏ ဆန္ဒကို လွတ်လပ်စွာအပ်နှင်းခြင်း

ကြောင့် ပေါ်ပေါက်လာခြင်းမဟုတ်။ လူတစ်ယောက် သို့မဟုတ် လူတစ်စု၏ မကောင်းသော စိတ်ထားကြောင့်လည်း ကောင်း၊ အာဏာအလွဲသုံးစားလုပ်ခြင်းကြောင့်လည်း ကောင်း ပေါ်ပေါက်လာခြင်းဖြစ်သည်ဟု ၎င်းတို့က ဆိုကြ ပြန်လျက် ဤအဖြစ်အပျက်မျိုးများကို မိမိသဘောတရား တွင် အကျုံးမဝင်စေသင့်၊ ခြွင်းချက်အဖြစ်ထားသင့်သည် ဟု ဆိုကြပြန်လေသည်။ အဆိုပါ ရာဇဝင်ဆရာများသည် အစေ့ရွက်နှစ်ရွက် ရှိသည့် သစ်စေ့မှပေါက်သော အပင်တစ်မျိုးကို မြင်ကာ မျှဖြင့် သစ်ပင်များအားလုံးသည် ဤသို့ အစေ့ရွက်နှစ်ရွက် မှ ပေါက်လာကြခြင်းဖြစ်သည် ဟူသော ရုက္ခဗေဒသဘော တရားကို ချမှတ်ပြီးနောက် အစေ့ရွက်တစ်ရွက်တည်းမှ ပေါက်လာသော အုန်းပင်၊ ဝက်သစ်ချပင်နှင့် မှိုပွင့် စသည် တို့ကိုမြင် သောအခါ၌ကား ၎င်းတို့သည် ရုက္ခဗေဒ သဘော တရားများနှင့်အညီ ပေါက်လာ သောအပင်များ မဟုတ်ဟု "ကျားကျားမီးယပ်" လုပ်ကြသည့် ရုက္ခဗေဒ ပညာရှင်များ နှင့် အလားသဏ္ဌာန်တူလေသည်။

တတိယအမျိုးအစားဖြစ်သော ရာဇဝင်ဆရာများ ကမူကား အာဏာဟူသည် ရာဇဝင်ကျော် ပုဂ္ဂိုလ်များထံ ခြွင်းချက် စည်းကမ်းများဖြင့် အပ်နှင်းထားသော ပြည်သူ လူထု၏ တစ်ခဲနက်ဆန္ဒဟုဆိုကြ၏။ သို့ရာတွင် မည်သည့် ခြွင်းချက်စည်းကမ်းမျိုးဖြစ်သည် ဆိုခြင်းကိုကား ဖော်ပြ ခြင်းမပြုကြချေ။ ရာဇဝင်ကျော် ပုဂ္ဂိုလ်များ၌ အာဏာရှိ ခြင်းမှာ ၎င်းတို့သည် မိမိတို့ထံအပ်နှင်းထားသော ပြည်သူ လူထု၏ ဆန္ဒကို လိုက်နာသောကြောင့်သာဖြစ်သည်ဟု "တုံးတိ"ကြီး ဖြေဆိုကြလေသည်။

တစ်ဖန် ရာဇဝင်ကျော်ပုဂ္ဂိုလ်တို့ အာဏာရှိခြင်းမှာ ၎င်းတို့သည် ပြည်သူလူထု၏ဆန္ဒကို လိုက်နာသည်ဟု ဆိုလျှင် ပြည်သူလူထုကို လှုပ်ရှားစေသော အင်အားစုသည် ရာဇဝင်ကျော်ပုဂ္ဂိုလ်တို့၌ မတည်။ ပြည်သူလူထု အတွင်း၌ သာတည်သည်ကို ဆိုရာမရောက်ပါလော။ သို့ဖြစ်လျှင် ထိုခေါင်းဆောင်

ထိုသူတို့၌ မည်သည့်ထူးခြားချက် ရှိသေး သနည်း။ ဤသို့ဆိုလျှင် လောက၌ ခေါင်းဆောင်ဖြစ်ရခြင်း သည် ဘာအသုံးကျသေးသနည်း။

ထိုအခါ ခေါင်းဆောင်ဟူသည် ပြည်သူလူထု၏ ဆန္ဒကို ဖော်ပြကြသည်ဟု လည်းကောင်း၊ ခေါင်းဆောင် များ၏ ဆောင်ရွက်ချက်များသည် ပြည်သူလူထု၏ ဆန္ဒ ပြည်သူလူထု၏ ဘဝကို ကိုယ်စားပြုသည်ဟုလည်းကောင်း ၎င်းတို့က ဆို ကြ၏။

ကောင်းပြီ။ ခေါင်းဆောင်များ၏ ဆောင်ရွက်ချက် များသည် ပြည်သူလူထု၏ဆန္ဒ၊ ပြည်သူလူထု၏ ဘဝကို ဖော်ပြသည်ဆိုလျှင် ခေါင်းဆောင် များ၏ ဆောင်ရွက်ချက် အားလုံးကိုဆိုလိုသလော၊ "တစ်စိတ်တစ်ဒေသ"ကို ဆိုလို သလော။ အချို့သော ရာဇဝင်ဆရာတို့က ဆောင်ရွက်ချက် များ "အားလုံး´ဟု ဖြေ ဆိုကြ၏။ ဤသို့ဖြစ်လျှင် နပိုလီယန် နှင့် ကက်သရင်းဘုရင်မကြီးတို့၏ အတ္တုပ တ္တိကျမ်းများ တွင် ဖော်ပြပါရှိသော မျောက်မထားခြင်း၊ ကာမဂုဏ်ကျူး ခြင်း စ သည့် 'နန်းတွင်းဇာတ်ရှုပ်"များသည် ပြည်သူလူထု ၏ ဘဝကို ဖော်ပြလျက်ရှိသည် ဟု ဆိုရတော့မည်သာ ဖြစ်လေသည်။ ဤသို့ဆိုလျှင်ကား လားလားမျှ အဓိပ္ပါယ် မ ရှိချေ။ အချို့သော "အဘိဓမ္မာ" ရာဇဝင်ဆရာဆိုသူတို့ ကမူ ခေါင်းဆောင် များ၏ဆောင်ရွက်ချက် "တစ်စိတ် တစ်ဒေသ´ကိုသာ ဆိုလိုကြောင်းဖြင့် ပြောဆို ကြ၏။ သို့ဖြစ်လျှင် မည်သည့် "တစ်စိတ်တစ်ဒေသ´နည်း။ ခေါင်း ဆောင်တို့၏ ဆောင်ရွက်ချက်များစွာရှိသည့်အနက် မည် သည့်ဆောင်ရွက်ချက်မျိုးကိုသာ ပြည် သူတို့၏ ဘဝကို ကိုယ်စားပြုသော ဆောင်ရွက်ချက်များဟု ယူဆရမည် နည်း။ ထို မေးခွန်းကို ဖြေဆိုရန်မှာ ပြည်သူတို့၏ဘဝ၊ လူမျိုးတစ်မျိုး၏ ဘဝ၌ မည်သည့်အရာ များ အကျုံးဝင် လျက်ရှိသည်ကို ဦးစွာသိထားရလိမ့်မည် ဖြစ်လေသည်။

ဤ၌တွင် အဆိုပါ "အဘိဓမ္မာ' ရာဇဝင်ဆရာဆိုသူ များသည် ရှင်းရှင်း ပြတ်ပြတ် ဖြေဆိုနိုင်ခြင်း မရှိကြတော့ ဘဲ လွှန်စွာယေဘုယျသော ပြဿနာများကို ထောက်ပြ ကာ ဤပြဿနာများသည်ပင် လူ့လောကကြီး၏ ဘဝ ဖြစ်သည်ဟု ၎င်း တို့ထောက်ပြသော ယေဘုယျ ပြဿနာ များမှာ လွတ်လပ်ရေး၊ တန်းတူညီမျှရေး၊ အသိပညာ ဖွံ့ဖြိုးရေး၊ တိုးတက်ရေး၊ ယဉ်ကျေးမှု ထွန်းကားရေး စသည့်ပြဿနာ များ ဖြစ်လေသည်။ ဤသို့ဖြင့် အဆိုပါ ရာဇဝင်ဆရာများသည် လွန်စွာ ယေဘုယျ ကျသော ပြ ဿနာများထောက်ပြလျက် ဤသည်တို့ကား လူလောက ကြီး၏ ပြဿနာများဖြစ်သည်ဟု ဝိတ္တာရချဲ့၍ မိန့်ဆိုကြပြီး - နောက် အထိမ်းအမှတ် ကျောက်ရုပ်များ၊ အများအပြား ကျန်ရစ်ခဲ့သည့် ဘုရင်ဧကရာဇ်များ၊ ဝန်ကြီးများ၊ စစ် ဗိုလ်ချုပ်များ၊ နိုင်ငံပြုပုဂ္ဂိုလ်များ၊ သာသနာပြုပုဂ္ဂိုလ်များ၊ သတင်းစာဆရာများ စသည့် (၎င်းတို့စိတ်တွင် တိုးတက် မှုကို ရှေ့ရှုသူ၊ သို့မဟုတ် ဟန့်တားသူဟု အထင်ရှိသော) လူပုဂ္ဂိုလ်တစ်စု၏ အကြောင်းလောက်ကိုသာ မဆီမဆိုင် အပတ်တကုတ် အားထုတ်လေ့လာခြင်းပြုကြသည်။ သို့ရာ တွင် လူလောကကြီး၏ ဘဝလွတ်လပ်ရေး၊ တန်းတူညီမျှ  ရေး၊ အသိပညာဖွံ့ဖြိုးရေး၊ ယဉ်ကျေးမှုတိုးတက် ရေး စသည့်ကိစ္စများ ဖြစ်သည်ဟူသောအချက်ကို ၎င်းတို့၏ လေ့လာမှုကြောင့် ထွက်ပေါ်လာသည့် အကျိုးတရားမှာ ၎င်းတို့ပြုစုရေးသားသော ရာဇဝင်ကျမ်းများ ထဲ၌ စစ်ဘေး ဒဏ်ကြောင့် ပြောင်းရွှေ့ထွက်ပြေးကြရသော၊ အိုးအိမ်များ ကို မီးတိုက်ကြရသော လယ်သမားများကို စွန့်ပစ်ခဲ့ရသော တစ်ဦးကိုတစ်ဦး ထိုးခုတ် သတ်ဖြတ်ခြင်းပြုရသော၊ သန်း ပေါင်းများစွာသော ပြည်သူလူထုများ၏ အကြောင်း ဆို၍ တစ်လုံးတစ်ပါဒမျှမပါရှိဘဲ ကိုယ်တိုင် မီးရှို့ခြင်းမပြုရ သော၊ ကိုယ်တိုင် လယ်ထွန်ခြင်း မပြုရသော၊ ကိုယ်တိုင် သတ်ဖြတ်ခြင်းအမှုကို မပြုရသော ဒါဇင် အနည်းငယ်မျှ သော လူပုဂ္ဂိုလ်တို့၏ အကြောင်းများလောက်သာပါရှိခြင်း ဖြစ်လေ သည်။

ဤအချက်ကို ရာဇဝင်အဖြစ်အပျက်တိုင်းက သက် . သေပြလျက်ရှိပေသည်။ ၁၈ ရာစုအကုန်၌ အနောက်ဘက် ပါရီမြို့တွင် မည်သည့်အတွက်ကြောင့် လူထုများ၏ထကြွ မှုကြီးပေါ်ပေါက်ခဲ့သနည်း။ ထိုလှုပ်ရှားမှုကြီးသည် အရှေ့ ဘက်မော်စကိုမြို့သို့ မည်သည့်အတွက်ကြောင့် ရွှေ့လျား လာခဲ့ရသနည်း။ ဤမေးခွန်းတို့ကို ဖြေဆိုရာ၌ ၁၄-ကြိမ် မြောက်၊ ၁၅-ကြိမ်မြောက်နှင့် ၁၆-ကြိမ်မြောက် လူဝီဘုရင်များနှင့်တကွ ၎င်းတို့၏ ဝန်ကြီးများ၊ ၎င်းတို့၏ မောင်းမငယ်များ၊ ကိုယ်လုပ်တော်များ၏ ဆောင်ရွက်ချက် တို့ကို ရေးပြ၍ဖြေဆိုခြင်းဖြင့် ပြေလည်နိုင်ပါသလော။ နပိုလီယန်၊ ရူးဆူး၊ ဒီဒေရော့၊ ဗျူမာခေးနှင့်တကွသော ပုဂ္ဂိုလ်ကျော်တို့၏ဘဝကို ရေးပြ၍ ဖြေဆိုခြင်းဖြင့် ပြေလည် နိုင်ပါသလော။

ရုရှားပြည်သူများသည် အရှေ့ဘက် ကာဇန်ဒေသမှ ပြည်သူများနှင့် ဆိုက်ဗေးရီးယားမှ ပြည်သူများကို မည်သည့် အတွက်ကြောင့် ဝင်ရောက်တိုက်ခိုက်ခဲ့ကြသနည်း။ ဤ မေးခွန်းကိုဖြေဆိုရာ၌ ဂျွန်ဘုရင်၏ ဆိုးသွမ်းယုတ်ညံ့သော စိတ်သဘောထားများနှင့်တကွ ၎င်းနှင့် သူပုန်ခေါင်းဆောင် ကာစတီတို့ မည်သို့မည်ပုံ ခွန်းတုံ့ပြန် စာအလဲအလှယ် ပြုကြသည် စသည့် အကြောင်းအရာများကို အသေးစိတ် ရေးပြ၍ ဖြေဆိုခြင်းဖြင့် ပြေလည်နိုင်ပါသလော။

( တစ်ဆယ့်တစ်ရာစုအကုန် ကရူးဆိတ်စစ်ပွဲများ မည်သည့်အတွက်ကြောင့် ပေါ်ပေါက်ခဲ့ရသနည်း။ ဤ  မေးခွန်းကို ဖြေဆိုရာ၌ ပထမ ကရူးဆိတ်ခေါင်းဆောင်ဆိုသူ ဂေါဖရီနှင့်တကွ ၎င်း၏မယားငယ်များ၏ဘဝနှင့် ဆောင်ရွက်ချက်များကို ရေးပြ၍ ဖြေဆိုခြင်းဖြင့် ပြေလည် နိုင်ပါသလော။ သူတော်စင် ပီတာ၊ ခေါင်းဆောင် ဂေါဖရီ တို့ကဲ့သို့ သာသနာပြုပုဂ္ဂိုလ်တို့၏ လှုံ့ဆော်ချက်များကြောင့် ဖြစ်ပွားခြင်းဖြစ်သည်ဟု ပြောဆိုကြသလော။ သို့ ဖြစ်လျှင် ကရူးဆိတ်စစ်ပွဲများ၏ ရည်ရွယ်ချက်သည် ခရစ်သာသနာ ၏ ဘူမိနက်သန်ဖြစ်သော ဂျေရုဆလင်မြို့ကို သိမ်းပိုက်ရန် ဖြစ်သည်ဟု ထိုရာဇဝင်ကျော်ပုဂ္ဂိုလ်တို့က မိန့်ခွန်းခြွေသည့် အခါကျမှ

ကရူးဆိတ်စစ်ပွဲများသည် မည်သည့်အတွက် ကြောင့် ရုတ်တရက် ရပ်စဲသွား သနည်း။ ကျွန်ုပ်တို့သည် ကရူးဆိတ်စစ်ပွဲများဖြစ်ပွားခြင်းအကြောင်း တရားများကို နားမလည်ချေ။ ထို့ထက် ခေါင်းဆောင်တို့က စစ်ပွဲ၏ ရည်ရွယ်ချက်ကို ထုတ်ဖော် ကြေညာခြင်းပြုသည့်အခါကျမှ စစ်ပွဲကြီးရပ်စဲသွားခြင်းကိုကား သာ၍ပင် နားမ လည် နိုင်ချေ။ ရဟန်းမင်းကြီးများ၊ ဘုရင်ကေရာဇ်များ၊ သူရဲ ကောင်းများသည် ၎င်း တို့၏ သာသနာ့အောင် မြေဖြစ်သော ဂျေရုဆလင်မြို့ကိုကယ်တင်ရန် ပြည်သူတို့ ကို လှုံ့ဆော်ကြ ၏။ ထိုသို့ လှုံ့ဆော်သည့်အခါမှပင် တစ်လျှောက်လုံး စစ်တိုက်ခဲ့ ကြသော ကရူးဆိတ်စစ်သားများသည် စစ်မတိုက် ဘဲ တပ်ခေါက်၍ သွားခဲ့ကြလေ သည်။ အကြောင်းမူကား ၎င်းတို့၌ ဤနေရာသို့အရောက် ချီတက်အောင် လှုံ့ဆော် ခဲ့သည့် မသိနိုင်သောအကြောင်းတရားများ မရှိတော့ပြီ ဖြစ်သောကြောင့်တည်း။ သို့ဖြစ်ရကား ခေါင်း ဆောင်တို့က လှုံ့ဆော်သဖြင့် ခေါင်းဆောင်တို့၏ ဆန္ဒကြောင့် ပြည်သူ လူထုတို့ လှုပ်ရှားရသည်ဟူသော် အဆိုအမိန့်သည် ပါစင် အောင်မှားလျက် ရှိခြင်းကို ကရူးဆိတ် စစ်ပွဲများကလည်း သက်သေပြခဲ့ပြီ မဟုတ်လော။ ကရူးဆိတ် စစ်ပွဲကို လှုံ့ဆော် ခဲ့သည်ဟုဆိုသော ဂေါဖရီနှင့် ကရူးဆိတ်သူရဲကောင်းများ ၏ ရာဇဝင်သည် ပြည်သူလူထုများ၏ဘဝတစ်ခုလုံးကို ဖော်ပြခြင်းမပြုနိုင်ချေ။ ဂေါဖရီ နှင့် သူရဲကောင်းများ၏ ရာဇဝင်သည် ဂေါဖရီနှင့် သူရဲကောင်းများ၏ ရာဇဝင်မျှသာ ဖြစ်လေသည်။ ပြည်သူ လူထုများ၏ရာဇဝင် မဟုတ်ချေ။ ပြည်သူလူထုများ၏ ဘဝ ကိုဖော်ပြခြင်းမဟုတ်ချေ။ ပြည်သူ လူထုများ၏ ခံစားချက်များကို ဖော်ပြခြင်း မဟုတ်ချေ။

စာရေးဆရာများနှင့် တိုင်းပြည်ပြု ပုဂ္ဂိုလ်များ၏ ရာဇဝင်များကား ပြည်သူလူထု၏ဘဝကို သာ၍ပင်ဖော်ပြ ခြင်း မပြုနိုင်ချေ။

ယဉ်ကျေးမှုရာဇဝင်သည် စာရေးဆရာတစ်ယောက် သို့မဟုတ် တိုင်းပြည်ပြု ပုဂ္ဂိုလ်တစ်ယောက်၏ဘဝ၊ ၎င်း ၏ အတွေးအခေါ်၊ ၎င်း၏ခံစားချက်တို့ကို ဖော်ပြ၏။ ယဉ်ကျေးမှု ရာဇဝင်ကျမ်းကိုဖတ်၍ သာသနာပြုပုဂ္ဂိုလ် မာတင်လူသာ သည် စိတ်တိုသူဖြစ်ကြောင်း၊ ၎င်းက ထိုသို့ ဤသို့ ပြောခဲ့ဖူးကြောင်း စသည်ဖြင့် ကျွန်ုပ်တို့သိရ၏။ ရှူးဆူးသည် မယုံသင်္ကာစိတ် အားကြီးကြောင်း၊ ထိုထို ဤဤ သော စာအုပ်များကို ရေးခဲ့ကြောင်း စသည်ဖြင့် ကျွန်ုပ်တို့သိရ၏။ သို့သော်လည်း ထိုယဉ်ကျေးမှု ရာဇဝင် ကျမ်းများကို ဖတ်ခြင်းအားဖြင့် မာတင်လူသာ၏ သာသနာ ပြုပြင်ပြောင်းလဲရေး ပြီးသည့်နောက်တွင် မည်သည့်အတွက် ကြောင့် တစ်ဦးကို တစ်ဦး သတ်ဖြတ်ရခြင်းဖြစ်ကြောင်း၊ ပြင်သစ်တော်လှန်ရေးအတွင်း၌ မည် သည့်အတွက်ကြောင့် တစ်ဦးကိုတစ်ဦး ခေါင်းဖြတ် သတ်ကြခြင်းဖြစ်ကြောင်း ကို ကား ကျွန်ုပ်တို့မသိရချေ။

ယခုခေတ်ပေါ် ရာဇဝင်ဆရာများသည် ဤအထက် ပါ ရာဇဝင်နှစ်မျိုးနှစ်စား ကို စုပေါင်းရောမွှေလျက် ရှိကြ ၏။ ကျွန်ုပ်တို့သည် ၎င်းတို့ကဲ့သို့ အဆိုပါ ရာဇဝင် နှစ်မျိုး ကို စုပေါင်းရောမွှေခြင်း ပြုမည်ဆိုပါက ဘုရင်ဧကရာဇ် များနှင့် စာရေးဆရာများ၏ရာဇဝင်ကို ရရှိမည် ဖြစ်၏။ ပြည်သူများ၏ ရာဇဝင်ကိုကား ရ လိမ့်မည် မဟုတ်ချေ။

# အခန်း ၅

လက်တစ်ဆုပ်စာမျှသော လူနည်းစု ပုဂ္ဂိုလ်များနှင့် ပြည်သူ လူထုများသည် မည်သို့မည်ပုံ ဆက်စပ်လျက်ရှိခြင်းကို ရှာဖွေမတွေ့ရှိနိုင်ချေ။ ထို့ကြောင့် ပြည်သူလူထု၏ဘဝများ သည် လက်တစ်ဆုပ်စာမျှသော လူနည်းစုတို့၏ဘဝတွင် အကျုံးဝင်ခြင်း မရှိချေ။ ပြည်သူတို့က ၎င်းတို့၏ တခဲ နက်ဆန္ဒကို လူနည်းစု ပုဂ္ဂိုလ်

တို့ကို အပ်နှင်းထားခြင်း ကြောင့် ပြည်သူလူထုနှင့် ခေါင်းဆောင်တို့၏ ဘ၀နှစ်ခု သည် နီးကပ်စွာ ဆက်သွယ်နေကြသည်ဟူသော သဘော တရားကား မှန်းဆ၍ပြောခြင်းသာ ဖြစ်လေသည်။ ထို သဘောတရားကို ရာဇဝင်အတွေ့အကြုံ က ထောက်ခံခြင်း မပြုချေ။ “

ပြည်သူလူထုများက ၎င်းတို့၏ တခဲနက် ဆန္ဒကို ရာဇဝင်ကျော် ပုဂ္ဂိုလ်များ ထံနှင်းအပ်ထားခြင်းသည် အာဏာ ဖြစ်သည်ဟူသော သဘောတရားသည် တရား ဥပဒေဆိုင် ရာ သိပ္ပံပညာ၌ အဓိပ္ပာယ်ရှိကောင်း ရှိမည်ဖြစ်၏။ တရား ဥပဒေဆိုင်ရာ သိပ္ပံပညာ၏ ရည်ရွယ်ချက်များအတွက် အရေးကြီးကောင်း ကြီးမည်ဖြစ်၏။ သို့ရာတွင် ရာဇဝင် သိပ္ပံပညာ၌ ထင်ဟပ်ကြည့်လိုက်၍ တော်လှန်ရေးများ အခြား သော လူမျိုးများကို ကျွန်ပြုအုပ်စိုးမှုများ၊ ပြည်တွင်း စစ်များ ပေါ်ပေါက်လာ သောအခါ (ဝါ) ရာဇဝင် အစပြုလာ သောအခါ၌ကား ထိုသဘောတရားသည် ဘာ မျှ အဓိပ္ပာယ် မရှိချေ။

ထိုသဘောတရားသည် ရုတ်တရက်ကြည့်သော် ခိုင်လုံသည်ဟု ထင်ရ၏။ အဘယ်ကြောင့်ဆိုသော် ပြည်သူ လူထုများ၏ဆန္ဒကို အပ်နှင်းခြင်းဆိုသည့် ကိစ္စ မျိုးသည် ( မှန်မမှန် စစ်ဆေး၍မရသောကိစ္စမျိုး ဖြစ်သောကြောင့် တည်း။ ဤသို့ မှန်မမှန် စစ်ဆေး၍ မရခြင်းမှာလည်း လောက၌ ပြည်သူလူထုများ၏ ဆန္ဒကို အပ်နှင်းခြင်းဟူ သော ကိစ္စဟူ၍ မည်သည့်အခါကမျှ မရှိခဲ့ဘူးသောကြောင့် ဖြစ် လေသည်။ . ။

ထိုသဘောတရားသည် ရာဇဝင် အဖြစ်အပျက် တစ်ခု ဖြစ်ပေါ်လာ၍ ထို အဖြစ်အပျက်၏ ထိပ်ပိုင်း၌ ရပ်လျက်ရှိသော ပုဂ္ဂိုလ်တစ်ဦးကိုမြင်တိုင်း ထိုထိုဤဤ သော ပုဂ္ဂိုလ်သည် ထိုအဖြစ်အပျက်ကို ခေါင်းဆောင်သည်။ ယင်းသို့

ခေါင်းဆောင်နိုင်ခြင်းမှာ ပြည်သူလူထုများက ၎င်းတို့၏ တခဲနက်ဆန္ဒကို အပ်နှင်းလိုက်ခြင်းဖြစ်သည်ဟု အလွယ်တကူ ပြောဆိုတတ်သည်သာ ဖြစ်လေသည်။

ရာဇဝင်၏မေးခွန်းများကို ဖြေကြားသော အဆိုပါ သဘောတရား၏ အဖြေများသည် ကွင်းတစ်ခု၌ ထိုမှ ဤမှ သွားလာနေသော နွားတစ်အုပ်ကို မြင်သည်၌ ထို နွားအုပ်ကြီးသည် ရှေ့ဆောင်နွားသွားရာသို့ လိုက်ပါနေ ခြင်းဖြစ်သည်ဟုပြောသော လူတစ်ယောက်၏ အဖြေနှင့် တူသည်။ စင်စစ်၌ ထိုနွားအုပ်ကြီးသည် ကွင်းထဲ၌ စိမ်းလန်းသော စားကျက်များရှိရာသို့လည်းကောင်း၊ သို့ မဟုတ် နွားကျောင်းသား မောင်းနှင်ရာသို့လည်းကောင်း သွားနေခြင်းဖြစ်သည်ကိုမူ ထိုလူသည် သတိမထားမိဟန် မတူချေ။

"ရှေ့နွားက ဦးစီးခေါင်းဆောင် ပြုလျက်ရှိခြင်း ကြောင့်လည်းကောင်း၊ ၎င်း၏ တခဲနက်ဆန္ဒကို ရှေ့ဆောင် နွားထံတွင် နှင်းအပ်ထားခြင်းကြောင့်လည်းကောင်း၊ ထိုနွားအုပ်ကြီးသည် ထိုအရပ်ဒေသသို့ ရှေ့သွားနေခြင်း ဖြစ်သည်။" ဤသည်ကား အာဏာဟူသည် ခေါင်းဆောင် ထံ "ခြွင်းချက်မရှိ" နှင်းအပ်ထားသော ပြည်သူ၏ဆန္ဒ ကို ခေါ်ဆိုခြင်းဖြစ်သည်ဟု ယူဆကြသော ပထမအမျိုး အစားဖြစ်သည့် ရာဇဝင်အဆိုအမိန့်၏ သဘောနှင့် တူ ၏။

"ရှေ့မှ ဦးစီးဦးဆောင် ပြုလျက်ရှိသည့် နွားများ တစ်ကောင်ပြီး တစ်ကောင် အပြောင်းအလဲဖြစ်ခြင်းမှာ . အခြားကြောင့်မဟုတ်။ နွားအုပ်ကြီးသည် ၎င်း၏ တခဲနက် ဆန္ဒကို ရှေ့ဆောင်နွားတစ်ကောင်ထံမှ အခြား ရှေ့ဆောင် နွားတစ်ကောင်ထံသို့ ပြောင်းလဲ နှင်းအပ်ခြင်းကြောင့် ဖြစ်သည်။ ဤသို့ ပြောင်းလဲ နှင်းအပ်ရခြင်းမှာလည်း ရှေ့ဆောင်နွားက နောက်နွားအုပ်ကြီး သွားလိုသောလမ်းကို ခေါ်ဆောင်မသွားခြင်းကြောင့်ဖြစ်သည်။ ဤကား အာဏာ ဟူသည် ခေါင်းဆောင်ထံ "ခြွင်းချက်စည်းကမ်းများ" နှင်းအပ်ထားသော ပြည်သူတို့၏ တခဲနက်ဆန္ဒဖြစ်သည် ဟု ယူဆ

ကြသော ဒုတိယအမျိုးအစား ရာဇဝင်ဆရာတို့၏ အဆိုအမိန့်နှင့် တူ၏။ (အဖြစ်အပျက်တစ်ခုကို ဤသို့ လေ့လာ အကဲခတ်ရာတွင် အကဲခတ်သူ ကိုယ်နှိုက်က "ဘက်လိုက်"လျက် ရှိခြင်းကြောင့် ပြည်သူလူထုကြီး၏ လှုပ်ရှားမှုလမ်းကြောင်း ပြောင်းသွားသည်နှင့်အမျှ ဘေးသို့ လည်းကောင်း၊ တစ်ခါတရံ နောက်ဆုံးသို့ လည်းကောင်း ရောက်သွားတတ်သူများကိုလည်း ခေါင်းဆောင်ဟု ထင် တတ်ကြသည်။)

"ရှေ့ဆောင်နွားများ မကြာခဏ ပြောင်းလဲနေခြင်း၊ နွားအုပ်ကြီး၏ ဦးတည်ရာလမ်းကြောင်း မကြာခဏ ပြောင်းလဲနေခြင်းမှာ အခြားကြောင့်မဟုတ်။ ရှေ့ဆောင် နွားသည် နောက်နွားအုပ်ကြီး လမ်းကြောင်းပြောင်းလိုသော အခါ၌ အဆင်သင့် ပြောင်းနိုင်စေရန် အရပ်လေးမျက်နှာ ၌ အရံရှေ့ဆောင်နွားများကို လိုက်ပါစေခြင်းကြောင့်ဖြစ် သည်။ ထို့ကြောင့် နွားအုပ်ကြီး၏ သွားလာလှုပ်ရှားပုံကို လေ့လာလိုလျှင် ကျွန်ုပ်တို့သည် ထိုနွားအုပ်ကြီး၏ ပတ်ပတ်လည်တွင် ခြံရံလိုက်ပါလာသော ထင်ရှားသည့် နွားများ၏ သွားလာလှုပ်ရှားမှုကို လေ့လာအပ်ပေသည်။" ဤကား ဧကရာဇ်များအစ သတင်းစာဆရာအဆုံးရှိသော ရာဇဝင်ကျော် ပုဂ္ဂိုလ်တို့သည် ခေတ်ကို ကိုယ်စားပြုသူများ ဖြစ်သည်ဟု ယူဆကြသော တတိယ အမျိုးအစား ရာဇဝင် ဆရာများ၏ အဆိုအမိန့်နှင့် တူနေသည်။

စင်စစ်၌ကား ရာဇဝင်ပုဂ္ဂိုလ်ကျော်များထံ နှင်းအပ် ထားသော ပြည်သူများ၏ ဆန္ဒသည် အာဏာဖြစ်သည် ဟူသော သဘောတရားသည် ရာဇဝင်က မေးမြန်းလျက် ရှိသော မေးခွန်းကို ဖြေကြားသည့်အဖြေ မဟုတ်ချေ။ ၎င်းသည် မေးခွန်းကို အခြားစကားလုံးများဖြင့် ပြန်၍ ရေးခြင်းသာ ဖြစ်လေသည်။ မေးခွန်းကို စကားပြေဖြင့် ပြန်ရေးခြင်းသာ ဖြစ်လေသည်။

ရာဇဝင်အဖြစ်အပျက်များသည် မည်သည့်အတွက် ကြောင့် ပေါ်ပေါက်လာကြသနည်း။ အာဏာကြောင့် ပေါ်ပေါက်လာကြ၏။ အာဏာဆိုသည်မှာ မည်သည့်အရာ နည်း။ အာဏာဟူသည် လူတစ်ယောက်ထံတွင် နှင်းအပ် ထားသော ပြည်သူတို့၏ တခဲနက်ဆန္ဒကို ခေါ်ခြင်းဖြစ် သည်။ မည်သည့်ခြွင်းချက် စည်းကမ်းများဖြင့် လူထု၏ ဆန္ဒကို လူတစ်ယောက်ထံတွင် အပ်နှင်းထားသနည်း။ အပ်နှင်းခြင်းခံရသော ပုဂ္ဂိုလ်သည် အပ်နှင်းခြင်းပြုသော ပြည်သူလူထု၏ ဆန္ဒကို ကိုယ်စားပြုထုတ်ဖော်ရမည် ဟူသော ခြွင်းချက်စည်းကမ်းများဖြင့် အပ်နှင်းထားခြင်း ဖြစ်သည်။ ဤကား ရာဇဝင်တို့၏ အဖြေဖြစ်၏။ သို့ဖြစ် ရကား ရာဇဝင်ဆရာတို့၏ အဖြေကို ချုပ်၍ကြည့်လိုက် သော် အာဏာသည် ကျွန်ုပ်တို့ နားမလည်သော စကား တစ်လုံးသာ ဖြစ်သည်ဟုသာ အဓိပ္ပာယ်ထွက်လေသည်။ အခြား မည်သည့်အဓိပ္ပာယ်မျှ မရှိချေ။

လူ့လောက၌ လက်ဆုပ်လက်ကိုင် ပြ၍မရသော ရုပ်ဒြပ်မဲ့ တွေးခေါ်မှုမျိုးဖြင့် အရာရာကို စဉ်းစားဆုံးဖြတ် ၍ မရချေ။ လူသည် အချို့ သော ကိစ္စများကို ရုပ်ဒြပ်မဲ့တွေးခေါ်မှုဖြင့် စဉ်းစားဝေဖန်ခြင်းပြုရသည် မှန်သော်လည်း အချို့သော ကိစ္စများကိုကား လက်ဆုပ်လက်ကိုင်ပြ၍ ရသော အတွေ့အကြုံများကို အမှီပြု၍ စဉ်းစားဆုံးဖြတ် ' ရ၏။ လူ့လောကတွင် အရာရာကို ရုပ်ဒြပ်မဲ့တွေးခေါ်မှု မျိုးဖြင့်သာ စဉ်းစားဆုံးဖြတ်ရမည်ဆိုပါက တရားဥပဒေ သိပ္ပံပညာက ဖွင့်ဆိုပြခဲ့သည့် အာဏာဟူသောအရာသည် စကားလုံးတစ်လုံးအဖြစ် တည်ရှိနေသော အရာတစ်ခုမျှ သာဖြစ်နေပေလိမ့်မည်။ အဟုတ်တကယ် တည်ရှိခြင်း မပြုသောအရာတစ်ခုမျှသာ ဖြစ်ပေလိမ့်မည်။ သို့သော်လည်း အာဏာဟူသောအရာသည် စကားလုံးတစ်လုံး အဖြစ်သာ တည်ရှိသော အရာတစ်ခု မဟုတ်ချေ။ အဟုတ် ရှိ တကယ်ရှိနေသော ရုပ်၏အခြင်းအရာတစ်ခု ဖြစ်ပေသည်။ ဤသည်ကို အတွေ့အကြုံက ပြသခဲ့ပြီး ဖြစ်ပေသည်။

အာဏာဟူသောအရာသည် အဟုတ်ရှိ၊ တကယ် ရှိသော ရုပ်အခြင်းအရာ တစ်ခုဖြစ်ကြောင်းကို ရာဇဝင်က သက်သေပြခဲ့ပြီး ဖြစ်ပေသည်။ ယနေ့ ဖြစ်ပျက် လျက်ရှိ သော အဖြစ်အပျက်များကလည်း သက်သေပြလျက် ရှိ ပေသည်။ ထို့ကြောင့်ပင် ပြည်သူလူထု၏ စုပေါင်းဆောင် ရွက်ချက်များကို အာဏာဟု အမည် နာမပေးနေကြရ မည် မဟုတ်လော။

' အဖြစ်အပျက်တစ်ခု ပေါ်ပေါက်လာတိုင်း လူတစ် ယောက် သို့မဟုတ် လူ တစ်စုသည် ပေါက်ပေါက်လာစမြဲ ဖြစ်၏။ ထိုအခါ၌ ထိုအဖြစ်အပျက်သည် ထိုလူ တို့၏ စိတ်ဆန္ဒကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟု ထင် မှတ်ရလေသည်။ တတိယအကြိမ်မြောက် နပိုလီယန်က အမိန့်ပြန်တမ်းတစ်စောင် ထုတ်ပြန်ပြီးသည့် နောက်၌ ပြင်သစ်တို့ မက္ကဆီကိုနိုင်ငံကို ဝင်ရောက်တိုက်ခိုက်ခဲ့ကြ သည် မဟုတ် လော။ ပရပ်ရှားဘုရင်နှင့် နန်းရင်းဝန်ကြီး ဘစ်စမတ်တို့က အမိန့်ပြန်တမ်းများ ထုတ်ပြန်ပြီးသည့် နောက်၌ ဩစတေးရီးယားနှင့် ပရပ်ရှားနိုင်ငံတို့ စစ်မက် ဖြစ်ပွား ခဲ့သည် မဟုတ်လော။ နပိုလီယန် ဘိုနာပတ်က အမိန့်ပြန်တမ်းတစ်စောင် ထုတ် ပြန်ပြီးသည့် နောက်၌ ပြင်သစ်စစ်တပ်ကြီး ရုရှားနိုင်ငံသို့ ဝင်ရောက်ခဲ့သည် မဟုတ် လော။ ရုရှားဘုရင် အလက်ဇန်းဒရားက အမိန့် ပေးပြီးသည့်နောက်၌ ပြင်သစ်တို့ ဘာဘွန်းမင်းဆက်ကို ပြန်လည် နန်းတင်ခဲ့ရသည် မဟုတ်လော။ ဤသို့ဖြင့် အဖြစ်အပျက်တစ်ခု ပေါ်ပေါက်လာတိုင်း ထိုအဖြစ်အပျက် သည် ပြန်တမ်းထုတ် ပြန်သူ၊ အမိန့်ပေးသူ လူတစ်ယောက် သို့မဟုတ် လူတစ်စု၏စိတ်ဆန္ဒနှင့် တစ်စုံတစ်ရာ ပတ်သက် လျက်ရှိခြင်းကို တွေ့ရ၏။ ဤသည်ကို အတွေ့အကြုံက ပြသခဲ့ပြီးဖြစ်၏။ ဘုရားသခင်သည် လောကီလူမှုကိစ္စများ၌ ဝင် ရောက်စွက်ဖက် လျက် ရှိသည်ဟူသော အယူအဆကို လက်ခံသည့် ရာဇဝင်ဆရာများကမူကား ထို အဖြစ်အပျက် များပေါ်ပေါက်လာရသည်ဟု ယူဆလိုကြ၏။ သို့ရာတွင် ၎င်းတို့၏

အယူအဆကို လူ၏ ဆင်ခြင်တုံတရားက သော်လည်းကောင်း၊ အတွေ့အကြုံက သော်လည်းကောင်း ထောက်ခံခြင်း မပြုချေ။

လူတစ်ယောက်၏ စိတ်ဆန္ဒ၊ သို့မဟုတ် ၎င်း၏ စကားများသည် စစ်ပွဲတစ်ပွဲ သို့မဟုတ် တော်လှန်ရေးတစ်ခု စသည့် ယေဘုယျ အဖြစ်အပျက်ကြီးတစ်ခု၌ တစ်စိတ် တစ်ဒေသအားဖြင့် အကျုံးဝင်လျက်ရှိသည်ဆိုခြင်းမှာ မှန်ပါ သည်။ ဤအချက်ကို ကျွန်ုပ် အငြင်းမပွားလိုချေ။ သို့ရာ တွင် ထိုလူတစ်ယောက်၏ စိတ်ဆန္ဒ၊ ၎င်း၏ စကားများ စသည်တို့သည် သန်းပေါင်းများစွာသောလူများ၏ လှုပ်ရှား မှုကြီး၏ အဓိကအကြောင်းရင်း ဖြစ်သည်။ လောလော ဆယ် အကြောင်းရင်း ဖြစ်သည်ဆိုခြင်းကိုကား ကျွန်ုပ် လက်မခံနိုင်ချေ။ (ထိုပုဂ္ဂိုလ်သည် လူမဟုတ်။ မိုးပေါ်က နတ်သိကြားဆိုလျှင်ကား ကျွန်ုပ် မပြောတတ်ပါ။) ကောင်း ပြီ။ ထိုပုဂ္ဂိုလ်၏ စကားများကြောင့် အဖြစ်အပျက်များ ပေါ်ပေါက်လာသည်ဟူသော ၎င်းတို့၏စကား တို့ကို ကျွန်ုပ် တို့ လက်ခံသည်ဟုပင်ထားပါဦး။ ရာဇဝင်က လက်မခံချေ။

ရာဇဝင်ကို ပြန်ကြည့်လျှင် ရာဇဝင် ပုဂ္ဂိုလ်ကျော်တို့၏ စကားများပြောတိုင်း အဖြစ်အပျက်များ ပေါ်ပေါက်လာခြင်း မဟုတ်သည်ကို တွေ့ရမည်သာ ဖြစ်လေသည်။ ၎င်းတို့ ၏ ဆန္ဒ၊ ၎င်းတို့၏ အမိန့်များနှင့် ပြောင်းပြန်ဖြစ်ပျက် သော အဖြစ်အပျက်များ ရာဇဝင်တွေ ဒုနဲ့ဒေး ရှိခဲ့သည် မဟုတ်လော။

သို့ဖြစ်ရကား ဘုရားသခင်သည် လောကီလူမှု ကိစ္စများတွင် ဝင်ရောက်စွက်ဖက်လျက်ရှိသည်ဆိုသော အယူအဆကို မယုံကြည်သူများအဖို့၌ကား "အာဏာ"

ကြောင့် ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်ခဲ့ရသည်ဆို သော စကားသည် အဓိပ္ပာယ်မရှိချေ။ လက်ခံနိုင်သော အကြောင်းပြချက် မဟုတ်ချေ။

ရာဇဝင်အတွေ့အကြုံဖြင့် ပြောရလျှင် အာဏာဆို သည်မှာ အခြားမဟုတ်။ လူပုဂ္ဂိုလ်တစ်ဦး၏ စိတ်ဆန္ဒနှင့် ထိုစိတ်ဆန္ဒကို လက်တွေ့ အကောင်အထည်ဖော်သူများ  အကြားတွင် တည်ရှိသော ဆက်ဆံရေး ပုံစံတစ်မျိုးသာ ဖြစ်လေသည်။

သို့ဖြစ်လျှင် ထိုဆက်ဆံရေးသည် မည်သို့သော ဆက်ဆံရေးမျိုးနည်း။ ဤအချက်ကို နားလည်ရန်မှာ ထို စိတ်ဆန္ဒသည် မည်သူ၏ စိတ်ဆန္ဒနည်း။ မည်သူ၏ အမိန့်နည်း။ လူတစ်ယောက်ထံတွင် ဘုရားသခင်က ပြဋ္ဌာန်းပေးလိုက်သော ဘုရားသခင်၏ အလိုတော်၊ ဘုရား သခင်၏ အမိန့်တော်ကို ဆိုလိုသလော။ သို့တည်းမဟုတ် ထိုလူပုဂ္ဂိုလ်၏ ခေါင်းထဲမှ ပေါ်ထွက်လာသော စိတ်ဆန္ဒ လော။

ရှေးဟောင်း ရာဇဝင်ဆရာများ ပြောသကဲ့သို့ ထိုအမိန့်၊ ထိုစိတ်ဆန္ဒသည် ဘုရားသခင်၏ အလိုတော် ဖြစ်သည်ဟုဆိုလျှင် ၎င်းသည် အချိန်နှင့် အကြောင်းတရားကြောင့် ပေါ်ပေါက်လာခြင်း မဟုတ်နိုင်ချေ။ ၎င်း ၏ အလိုအလျောက် ပေါ်ပေါက်လာခြင်းသာ ဖြစ်ရပေ လိမ့်မည်။ အကြောင်းမူ ဘုရားသခင်၏ အလိုတော်ကို မည်သည့်အချိန်ကာလ၊ မည်သည့်ပယောဂကမျှ လွှမ်းမိုး ချုပ်ကိုင်ခြင်း မပြုနိုင်သောကြောင့်ပေတည်း။ တဖန် ထို အမိန့်၊ ထိုစိတ်ဆန္ဒသည် အချိန်ကာလနှင့် ပယောဂ စသည်တို့နှင့် ဆက်စပ်ဖြစ်ပေါ်လာသော လူ၏ အမိန့်၊ လူ၏ဆန္ဒ ဖြစ်သည်ဆိုလျှင် ထိုစိတ်ဆန္ဒ၊ ထိုအမိန့်နှင့် အဖြစ်အပျက်များ မည်သို့မည်ပုံ ဆက်စပ်နေသည်ကို ဖော်ပြရန်အတွက် (၁) အဖြစ်အပျက်များ အခြေအနေ (တစ်နည်းအားဖြင့် အဖြစ်အပျက်နှင့် ထိုအဖြစ်အပျက်များ ကို ဖြစ်စေသူတို့ အချိန်ကာလအားဖြင့် လှုပ်ရှားမှုခြင်း ဆက်သွယ် ယှက်နွယ်နေကြပုံ။) (၂) အမိန့်ပေးသူများနှင့် ထိုအမိန့်ကို လက်တွေ့လုပ်ဆောင်ရသူများတို့၏ ဆက် သွယ်မှု (တစ်နည်းအားဖြင့် အမိန့်ပေးသူများနှင့် အမိန့်ကို လက်တွေ့ ဆောင်ရွက်သူများ မည်သို့မည်ပုံ ဆက်သွယ်နေ ကြပုံ) တို့ကို ကျွန်ုပ်တို့ ထည့်သွင်း စဉ်းစားရလိမ့်မည် ဖြစ်ပေသည်။

# အခန်း ၆

အချိန်ကာလတည်းဟူသော အကြောင်းတရားတစ်ပါးကို မှီခြင်း တည်ခြင်း မပြုသော ဘုရားသခင်၏ အလိုတော်သာ  လျှင် ထိုအဖြစ်အပျက်တို့ကို တည်စေ၊ ဤအဖြစ်အပျက် တို့ကို မတည်စေနှင့် စသည်ဖြင့် နိမိတ်စကားပေးနိုင်ပေလိမ့် မည်။ အကြောင်းတရားအားလုံးတို့ကို မှီခြင်း တည်ခြင်း မရှိဘဲ တန်ခိုး ဣဒ္ဓိပါဒ် အလုံးစုံတို့ရှိသည့် ဘုရားသခင် ၏ အလိုတော်သာလျှင် လူ့လောကကြီး၏ လှုပ်ရှားမှုကို လမ်းညွှန်ခြင်း ပြုနိုင်ပေလိမ့်မည်။ သို့ရာတွင် ပုထုဇဉ် လူသားတို့ကား အချိန်ကာလအတွင်း၌ မှီတင်းနေထိုင်ကြ ရ၍ လောကထုပ္ပတ်ကြီးထဲ၌ ကိုယ်တိုင်ကိုယ်ကျ ပါဝင် ဆောင်ရွက်နေကြရသူများသာ ဖြစ်လေသည်။

သို့ဖြစ်ရကား အမိန့်တစ်ခု (ဝါ) စိတ်ဆန္ဒတစ်ခု သည် အချိန်ကာလမှ ကင်းလွတ်တည်ရှိနေသော ဘုရား သခင်၏အလိုတော်၊ ဘုရားသခင်၏နုတ်ထွက် စကားတစ်ခု မဟုတ်ခဲ့လျှင် (ဝါ) သာမန်လူသားတို့၏ အမိန့်တစ်ခုသာ ဆိုလျှင် ထို အမိန့်တစ်ခု မဖြစ်နိုင်ချေ။ တစ်စုံတစ်ခုသော အကြောင်းတရားကြောင့် ပေါ်ပေါက် လာရသော အမိန့်သာ ဖြစ်ရပေလိမ့်မည်။ အမိန့်တစ်ရပ်၌ မူလအမိန့်တစ်ရပ် တည်းဟူသော အကြောင်းတရား တစ်ခုမရှိဘဲ မဖြစ်ပေါ် နိုင်ချေ။

လောက၌ အကြောင်းတရားဟူ၍ မရှိတော့သည် နှင့် အကျိုးတရားလည်း ထင်နိုင်တော့မည် မဟုတ်ချေ။ အကျိုးတရားမရှိလျှင် အကြောင်းတရားလည်း မရှိ တော့ ချေ။ တစ်ဖန် ထိုအကျိုးတရားသည် အကြောင်းတရားဖြစ် ကာ ဒုတိယ အကျိုးဆက်ကို ဖြစ်ပေါ်စေပြန်သည်။ တစ်ဖန် ဒုတိယ အကျိုးဆက်သည် အကြောင်းတရားအဖြစ် ပြောင်း လဲကာ တတိယအကျိုးတရားဆက်ကို ဖြစ်စေ ပြန်လေ သည်။ ဤသို့ဖြင့် ဆက်၍ ဆက်၍ ဖြစ်ပေါ်ခြင်းဖြစ် လေသည်။ အလားတူ

ပင် လူ၏စိတ်ဆန္ဒကို ဖော်ပြချက် တစ်ရပ် (ဝါ) အမိန့်တစ်ရပ်သည်လည်း မူလ စိတ်ဆန္ဒ ကို ဖော်ပြချက် တစ်ရပ် (ဝါ) မူလအမိန့်တစ်ရပ်တည်း ဟူသော အကြောင်းတရားတစ်ခုမရှိဘဲ မဖြစ်ပေါ်နိုင်ချေ။

အမိန့်တစ်ရပ်သည် အကြောင်းတရားမရှိဘဲ အလို အလျောက် ပေါ်လာခြင်း မဟုတ်ချေ။ အမိန့်တစ်ရပ်တည်း ဖြင့် ဖြစ်စဉ်ကြီးတစ်ခုလုံးကို ဆက်၍ဆက်၍ ဖြစ်ပေါ်စေ ခြင်းငှာ မတတ်နိုင်ချေ။ အမိန့်တစ်ရပ်ကြောင့်သာ နောက် ထပ်အမိန့် တစ်ရပ် ထွက်ပေါ်လာခြင်း ဖြစ်လေသည်။ ထို အမိန့်တစ်ရပ်သည်လည်း ဖြစ်စဉ်ကြီးတစ်ခုနှင့် မသက်  ဆိုင်ချေ။ ဖြစ်စဉ်ကြီးထဲရှိ အဖြစ်အပျက်တစ်ခုနှင့်သာ သက်ဆိုင်လေသည်။

ဥပမာအားဖြင့် နပိုလီယန်သည် ၎င်း၏ စစ်တပ် များကို စစ်တိုက်ရန် အမိန့် ပေးသည်ဟု ကျွန်ုပ်တို့ပြောလေ့ ရှိကြ၏။ ဤသည်မှာ နားလည်လွယ်အောင် တစ်ခုနှင့် တစ်ခု ဆက်စပ်လျက် တစ်ခုမှ တစ်ခု ပေါ်ထွက်လာသော အမိန့်များကို ပေါင်းရုံး၍ တစ်ပြိုင်နက်တည်း ဖော်ပြခြင်း သာ ဖြစ်၏။ စင်စစ်၌ကား နပိုလီယန်သည် ရုရှားနိုင်ငံ ကြီးကို ချီတက်တိုက်ခိုက်ရန် တစ်ချက်တည်း အမိန့်ပေး နိုင်သည် မဟုတ်ချေ။ ထိုအတိုင်းလည်း အမိန့်မပေးခဲ့ ချေ။ အစပထမ၌ နပိုလီယန်သည် ဗီယင်နာမြို့တော်၊ ဘာလင်မြို့တော်၊ ပီတာစဘတ်မြို့တော် စ သည့် နေရာများသို့ စာချွန်များ ရာဇသံများ ပေးပို့ရန် အမိန့်ပေး ရ၏။ ထို့နောက် ကြည်းတပ်၊ ရေတပ်၊ ထောက်ပံ့ရေးတပ် 'စသည့် တပ်အသီးသီးသို့ ထိုထိုဤဤ သော ပြန်တမ်း များ၊ အမိန့်များ ထုတ်ပြန်ရ၏။ ဤသို့ သန်းပေါင်းများ စွာသော အမိန့်များကို တစ်ခုပြီးတစ်ခု ထုတ်ပြန်ပြီးနောက် မှ အမိန့်စဉ်ကြီးတစ်ခု ဖြစ်လာ ကာ ထိုအမိန့်စဉ်ကြီးနှင့် အညီ ရုရှားနိုင်ငံကို ပြင်သစ်တို့ ဝင်ရောက် တိုက်ခိုက်ခြင်း တည်းဟူသော ဖြစ်စဉ်ကြီးတစ်ခု ဖြစ်လာခဲ့ခြင်း ဖြစ်လေ သည်။

နပိုလီယန်သည် ဘုန်းမီးနေလ တောက်ပခဲ့စဉ်က အင်္ဂလန်ကျွန်းကို ဝင်ရောက် တိုက်ခိုက်ရန်အတွက် ထူး ကဲသော လုံ့လဖြင့် ထူးကဲသော ပြင်ဆင်မှုများကို လုပ်ခဲ့ ၏။ အင်္ဂလန်ကျွန်းကို ဝင်ရောက်တိုက်ခိုက်ရေးနှင့် ပတ် သက်၍လည်း အမိန့်အမျိုးမျိုးကို ထုတ်ပြန်ခဲ့၏။ သို့ရာတွင် ၎င်း၏တစ်သက်၌ ထိုကြံရွယ်ချက်ကို အကောင်အထည် ဖော်ရန် တစ်ကြိမ်မျှ ကြိုးစားခြင်း မရှိခဲ့ချေ။ နောက်ဆုံး ၌ ၎င်းကြံရွယ်သည့် အင်္ဂလန်ကျွန်းကို မတိုက်ဘဲ ၎င်းကြံ ရွယ်ခြင်းမရှိသည့် ၎င်းကိုယ်တိုင် မဟာမိတ်ဖွဲ့ လိုသည်ဟု ကမ်းလှမ်းထားသည့် (ဤကမ်းလှမ်းချက်ကို မကြာခဏ ထုတ်ဖော်ပြောဆိုလေ့ ရှိပါသည်။) ရုရှားနိုင်ငံကို ဝင်ရောက် တိုက်ခိုက်ခဲ့လေသည်။ ဤသို့ အင်္ဂလန်ကျွန်းကို ကြံရွယ် ထားသည့်အတိုင်း မတိုက်နိုင်ခဲ့ခြင်းမှာ အခြားကြောင့် မဟုတ်။ ၎င်း၏ အမိန့်များသည် အဖြစ်အပျက်များ၏ ဖြစ်ပေါ်တိုးတက်မှု လမ်းကြောင်းနှင့် ကိုက်ညီခြင်း မရှိ သောကြောင့် ဖြစ်လေသည်။ ကြံရွယ်ခြင်းမရှိသည့် ရုရှား နိုင်ငံကို ဝင်ရောက်တိုက်ခိုက်နိုင်ခဲ့ခြင်းမှာ ၎င်း၏အမိန့်များသည် အဖြစ်အပျက်များ၏ ဖြစ်ပေါ်တိုးတက်မှု လမ်း ကြောင်းနှင့် ကိုက်ညီခြင်းကြောင့် ဖြစ်လေသည်။ . အမိန့်တစ်ရပ်ကို လက်တွေ့ အကောင်အထည် ပေါ်စေလိုလျှင် လက်တွေ့အကောင်အထည် ဖော်နိုင်သော အမိန့်မျိုးသည် လက်တွေ့ ဆောင်ရွက်၍ရသော အမိန့်မျိုး ဟုတ်မဟုတ်ကို ခွဲခြားသိရန်ကား မဖြစ်နိုင်ချေ။ လူသန်း ပေါင်းများစွာ ပါဝင်တိုက်ခိုက်သည့် နပိုလီယန်စစ်ပွဲကဲ့သို့ သော အဖြစ်အပျက်မျိုးကို မဆိုထားနှင့်၊ အလွယ်ကူဆုံး သော သာမန် အဖြစ်အပျက်ကလေးတစ်ခု၌ပင် အမိန့် တစ်ခုသည် လက်တွေ့ဆောင်ရွက်၍ ရသည်၊ မရသည်ကို ခွဲခြား၍ မရနိုင်ချေ။ သန်းပေါင်းများစွာသော အတားအဆီး အခက်အခဲများသည် ပေါ်ပေါက်လာကြမြဲ ဖြစ်လေ သည်။ လက်တွေ့ အကောင်အထည်ဖြစ်ခဲ့သော အမိန့်တိုင်း သည် လက်တွေ့အကောင်အထည် ဖြစ်မလာခဲ့သော များ ပြားလှစွာသော အမိန့်များအနက်မှ တစ်ခုသာ ဖြစ်လေ သည်။ မဖြစ်နိုင်သော အမိန့်

များသည် အဖြစ်အပျက်များ ၏ ဖြစ်ပေါ်တိုးတက်မှုလမ်းကြောင်းနှင့် ကိုက်ညီခြင်း မရှိသောကြောင့် အကောင်အထည် မဖြစ်ဘဲ တိမ်မြုပ် ပျောက်ကွယ်သွားခဲ့ကြ၏။ အမိန့်စဉ်ကြီး တစ်ခုလုံးနှင့် ဆက်စပ်လျက် ရှိသော ဖြစ်နိုင်သည့် အမိန့်များ သာလျှင် အဖြစ်အပျက်များ၏ ဖြစ်ပေါ်တိုးတက်မှုလမ်းကြောင်းနှင့် ကိုက်ညီခြင်း ကြောင့် အကောင်အထည် ဖြစ်လာခဲ့ကြလေ သည်။

အကြင် အကြောင်းတရားတစ်ခုကြောင့် ထိုအကျိုး တရားတစ်ခုသည် ပေါ်ပေါက်လာရသည်ဟု ကျွန်ုပ်တို့ လွဲမှားစွာ ယူဆလေ့ရှိကြ၏။ စင်စစ်၌ကား ထိုသို့မဟုတ် ချေ။ အကျိုးတစ်ခု ပေါ်လာရန်အတွက် အကြောင်းများစွာ ရှိပေ သည်။ အလားတူပင် အကြင်သို့သော အမိန့်တစ်ခု ကြောင့် ထိုသို့သော အဖြစ်အပျက်တစ်ခုသည် ပေါ်ပေါက် လာရသည်ဟု လွဲမှားစွာ ယူဆလေ့ရှိကြလေ သည်။ ဤသို့ ယူဆကြခြင်းမှာ အခြားကြောင့် မဟုတ်။ ကျွန်ုပ်တို့သည် ထို အဖြစ်အပျက်နှင့်အညီ အကောင်အထည် ပေါ်လာခဲ့ သော အမိန့်လောက်ကိုသာ မြင်၍ အဖြစ်အပျက်နှင့် မကိုက် ညီသဖြင့် အကောင်အထည်မဖြစ်လာသော အမိန့် များကို  သတိမထားမိသောကြောင့် ဖြစ်လေသည်။ ထို့မျှမက ရာဇဝင်ကျမ်းများ၌ အရေအတွက် များပြားလှစွာသော အမျိုးမျိုးသော အဖြစ်အပျက်စဉ်များ (ဥပမာ ပြင်သစ်တို့ အား ရုရှားနိုင်ငံကို ဝင်ရောက် တိုက်ခိုက်စေအောင် စေ့ ဆော်ခဲ့သော အဖြစ်အပျက်စဉ်များ)ကို အဖြစ်အပျက်ကြီး တစ်ခုအဖြစ် ယေဘုယျအား ခြုံ၍ ဖော်ပြတတ်လေရာ ထိုအခါ၌ များပြားလှစွာသောအမိန့်များကိုလည်း တစ်ခု တည်းသော အမိန့်တစ်ရပ်ကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟု ကျွန်ုပ်တို့ လွဲမှားစွာယူဆနေကြခြင်း ဖြစ်လေ သည်။

နပိုလီယန်သည် ရုရှားနိုင်ငံကို ဝင်ရောက်တိုက်ခိုက် လိုသော ဆန္ဒရှိ သောကြောင့် ဝင်ရောက်တိုက်ခိုက်ခြင်း ဖြစ်သည်ဟု ကျွန်ုပ်တို့ ပြောဆိုလေ့ရှိ

ကြ၏။ စင်စစ်၌ကား နပိုလီယန်၏ ဆောင်ရွက်ချက်များအားလုံး၌ ရုရှားနိုင်ငံ ကို တိုက်လိုသော ရည်ရွယ်ချက်မျိုး တစ်စုံတစ်ရာကိုမျှ မတွေ့ရချေ။ နပိုလီယန်၏ အမိန့်များသည် ထိုရည်ရွယ် ချက်နှင့် တခြားစီသာ ဖြစ်လေသည်။ ရုရှားနိုင်ငံကို န ပိုလီယန် ဝင်ရောက်တိုက်ခိုက်သည့် အဖြစ်အပျက်သည် လက်တွေ့လုပ်ဆောင် ခြင်းမရှိသော နပိုလီယန်၏ အမိန့် များစွာအနက်မှ အကောင်အထည် ဖြစ်လာ သော အမိန့် တစ်ခုသာ ဖြစ်လေသည်။ ဤအမိန့် အကောင်အထည် ပေါ်လာခြင်း မှာလည်း ၎င်းသည် အခြားသောအမိန့်များ ထက် ထူးခြားခြင်းကြောင့် မဟုတ်။ ဖြစ်ပေါ်လာသော အဖြစ်အပျက်များနှင့် တိုက်ဆိုက်နေခြင်းကြောင့်သာ ဖြစ် လေ သည်။ ပမာဆိုရသော် စာလုံးများ ထွင်းထားသော သံပြားတစ်ချပ်ဖြင့် စာတန်း ရေးရာ၌ စာလုံးများ လှပ နေခြင်းမှာ ရေးသူ၏ ကျွမ်းကျင်မှုကြောင့် မဟုတ်ဘဲ သံပြားတွင် ထွင်းထားသောစာလုံးများ ကိုယ်၌က လှပလျက် ရှိခြင်းကြောင့် ဖြစ်သကဲ့သို့တည်း။

သို့ဖြစ်ရကား အမိန့်များနှင့် အဖြစ်အပျက်များ၏ အချိန်ကာလအားဖြင့် ဆက်သွယ်မှုကို လေ့လာကြည့်သော အခါတွင် အဖြစ်အပျက်တစ်ခုသည် အမိန့် တစ်ရပ်ကြောင့် ပေါ်ပေါက်လာခြင်း မဟုတ်ကြောင်း၊ ထိုအဖြစ်အပျက်နှင့် ထို အမိန့်ကြား၌ တစ်စုံတစ်ခုသော ဆက်သွယ်မှုမျိုး ရှိ ကြောင်းကို ကျွန်ုပ်တို့ တွေ့ရ ပေသည်။

သို့ဖြစ်လျှင် ထိုတစ်စုံတစ်ခုသော ဆက်သွယ်မှု သည် မည်သို့သော ဆက် သွယ်မှုမျိုး ဖြစ်သနည်း။ ထို အချက်ကို နားလည်ရန်အတွက် အမိန့်ဟူသည် ဘုရား သခင်ထံမှ ဆင်းသက်လာခြင်း မဟုတ်၊ လူပုဂ္ဂိုလ်တစ်ဦး ထံမှ ဆင်းသက်လာခြင်း ဖြစ်သည်။ ထိုအမိန့်ကို ပေးသူ လူပုဂ္ဂိုလ်သည်လည်း အဖြစ်အပျက်ထဲတွင် ကိုယ်တိုင် ကိုယ်ကျ ပါဝင် လှုပ်ရှားနေရသည်ဟူသော အချက်ကို စဉ်းစားရန် လိုအပ်လာပေသည်။

အမိန့်ပေးသူက အမိန့်ပေးခြင်း ခံရသူတို့အား ဆက်ဆံပုံမျိုးကို အာဏာဟု ခေါ်ဆိုကြ၏။ အမိန့်ပေးသူ က အမိန့်ပေးခံရသူများကို ဆက်ဆံပုံမှာ အောက်ပါ အတိုင်း ဖြစ်လေသည်။

တစ်စုံတစ်ခုသော တူညီသည့် အလုပ်တစ်ခုကို ပြုလုပ်ရန်အတွက် လူ များသည် အချင်းချင်း အစုကလေး များ စု၍ စုစည်းကြ၏။ ထိုအလုပ်ကို ပြုလုပ် ရာ၌ လူ အသီးသီးတွင် ရည်ရွယ်ချက်အမျိုးမျိုး ရှိကြလိမ့်မည်။ သို့ရာတွင် ထို အလုပ်ကို ဝိုင်းဝန်းပြုလုပ်လျက်ရှိသော လူများ၏ ဆက်ဆံရေးမှာ အားလုံး အတူတူပင် ဖြစ်၏။

ဤသို့ အစုကလေးများဖွဲ့လျက် ဝိုင်းဝန်းစုပေါင်း လုပ်ကြသောအခါ၌ အစု ကြီးမှာ လူများက ၎င်းတို့သည် တိုက်ရိုက်ပါဝင်ဆောင်ရွက်သည်ဟု ထင်ကြ၍ အစုသေး ကလေးများမှာ သွယ်ဝိုက်၍ ပါဝင် ဆောင်ရွက်ကြသည်ဟု ထင်တတ်ကြ သည်။

ဤသို့ အစုများဖွဲ့၍ အလုပ်တစ်ခုကို ပြုလုပ်သည့် စုစည်းမှုမျိုးအနက် စစ်တပ်တစ်တပ်၏ သာဓကသည် ထင်ရှားသောသာဓက ဖြစ်လေသည်။

"စစ်တပ်တစ်တပ်၌ တပ်သားများပါဝင်၏။ ၎င်း တို့၏ အရေအတွက်သည် အများဆုံးဖြစ်၏။ ထို့နောက် အကြပ်၊ အရာခံဗိုလ် စသည့် ရာထူးအဆင့်မြင့်သော ပုဂ္ဂိုလ်များ ပါဝင်၏။ ၎င်းတို့အရေအတွက်သည် ပို၍ နည်း၏။ သို့ဖြင့် နောက်ဆုံး၌ အမြင့်ဆုံးသော စစ်ဦး ချုပ် ပါဝင်၏။ ၎င်း၏ အရေအတွက်မှာ တစ်ယောက် တည်း သာ ဖြစ်လေသည်။

စစ်အဖွဲ့ အစည်းတစ်ရပ်သည် ကတော့တစ်ခု မှောက်ထားသည့်နှင့် တူပေ သည်။ ကတော့အောက်ခြေ သည် အချင်းအားဖြင့် အကျယ်ဆုံး ဖြစ်၏။ ထို အောက် ခြေ၌ တပ်သားများ ပါဝင်၏။ ကတော့၏ နောက်တစ်ရစ် တွင် တပ်သား

ထက် အဆင့်မြင့်သော တစ်ကြပ်၊ စစ်ဗိုလ် များ ပါဝင်၏။ နောက်ဆုံး ကတော့ ထိပ်၌ကား စစ်သေနာ ပတိချုပ် ရှိလေသည်။

သို့ဖြစ်ရကား အရေအတွက် အများဆုံးဖြစ်သော တပ်သားများသည် ကတော့ကြီး၏ အောက်ခြေအဖြစ် တည်ရှိကြ၏။ တပ်သားများသည် သတ်ဖြတ်ခြင်း၊ ထိုးခုတ် ပစ်ခတ်ခြင်း၊ မီးရှို့ခြင်း၊ လုယက်ခြင်း စသည့် အမှုများကို ကိုယ်တိုင်ကိုယ်ကျ ပြုလုပ်ကြရ၏။ ထိုသို့ ပြုလုပ်ရန် အတွက် အထက်ပုဂ္ဂိုလ်များ၏ အမိန့်ကို အမြဲ နာခံရ၏။ ၎င်းတို့ကိုယ်တိုင်မှာမူ မည်သည့်အခါမျှ အမိန့်မပေးချေ။ (၎င်းတို့ထက် အရေအတွက်နည်းသော) အရာခံဗိုလ်များ မှာ အဆိုပါအမှုများကို စစ်သားများလောက် ကြိမ်ဖန်များ စွာ မပြုရတော့ချေ။ သို့ရာတွင် အမိန့်ပေးနိုင်သော အခွင့် ကို ရရှိလာခဲ့ကြပေပြီ။ စစ်ဗိုလ်များမှာမူ ထို့ထက်ပင် အလုပ်နည်းသေး၏။ အမိန့်ပေးရသည့်အကြိမ်မှာလည်း ပိုလာခဲ့လေပြီ။ စစ်ဗိုလ်ချုပ်များကား အမိန့်ပေးခြင်း၊ စစ်ပွဲ၏ ရည်ရွယ်ချက်ကို ညွှန်ဆိုခြင်းတို့မှအပ မည်သည့် အလုပ်ကိုမျှ မလုပ်ကြချေ။ လက်နက်ကိုပင် ကိုယ်တိုင် ကိုင်တွယ်ခြင်း မပြုတော့ချေ။ စစ်သေနာပတိချုပ်မှာမူကား ဆိုဖွယ် မရှိတော့ပြီ။ စစ်တပ်များ ပြောင်းရွှေ့ခြင်းနှင့် ပတ်သက်၍ ယေဘုယျ အမိန့်ပေးခြင်းမှအပ မည်သည့် အခါမှ တိုက်ပွဲတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ခြင်း မပြု တော့ချေ။ အခြား မည်သည့်အလုပ်ကိုမျှ လည်း မရှိတော့ ချေ။ အလားတူပင် (လယ်ယာ စိုက်ပျိုးရေး၊ ကူးသန်း ရောင်းဝယ်ရေး၊ အုပ်ချုပ်ရေး စသည့်) တူညီသော လုပ်ငန်း တစ်ခုကို ဆောင်ရွက်ရန် ဖွဲ့စည်းထားသော အဖွဲ့ တိုင်း၌ အလားတူ ဆက်ဆံရေးပုံစံမျိုးကို တွေ့မြင်ရသည်သာ ဖြစ်၏။

ဤသို့ဖြင့် ကတော့ကြီးတစ်ခု၏ အရစ်များသဖွယ် တည်ရှိနေသော စစ်တပ်ကြီး တစ်တပ်၏ အဆင့်တိုင်း အုပ်ချုပ်ရေး အဖွဲ့ တစ်ခု၏ အဆင့်တိုင်း အများပြည်သူ လုပ်ငန်းနှင့် ဆိုင်သော အဖွဲ့ကြီးတစ်ခု၏ အဆင့်တိုင်းကို အနိမ့်ဆုံးမှသည်

အမြင့်ဆုံးအထိ အထူးအထွေ လေ့လာ ခြင်းမပြုဘဲ တစ်ဆင့်လောက်ကို လေ့လာ ရုံမျှနှင့်ပင် ထို ကတော့ကြီး၏ ဖွဲ့စည်းမှု ဥပဒေတရားများကို ကျွန်ုပ် တို့ နားလည် နိုင်ပေသည်။ ဤသို့ဖြင့် အလုပ်တစ်ခုကို  လူအများ ဝိုင်းဝန်း လုပ်ဆောင်ကြရာ၌ ၎င်းတို့သည် အလုပ်တွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင်ရွက်သည်နှင့် အမျှ အမိန့်ပေးနိုင်သော အခွင့်အရေးများလည်း နည်းပါး လာကြသည်။ အရေအတွက် လည်း များပြားလာကြသည်။ ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင်ရွက်ခြင်းမပြုသည် နှင့်အမျှ အမိန့်ပေးနိုင်သော အခွင့်အရေးလည်း များပြားလာကြကာ ( အရေအတွက် နည်းပါးလာကြသည်။ အဖွဲ့အစည်းတစ်ခု ၌ ပါဝင်လုပ်ဆောင် သူများသည် ဤနိယာမတရားအရ တစ်ဦးကိုတစ်ဦး ဆက်သွယ်လျက်ရှိကြလေ သည်။ ဤ နည်းဖြင့် အောက်ခြေမှ ထိပ်ဆုံးသို့ တဖြည်းဖြည်း တက် လာခဲ့ပြီး နောက် အမိန့်ပေးနိုင်သောအခွင့်အရေး ဟူသမျှ သည် လုပ်ငန်းတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင်ရွက် ခြင်းမရှိသည့် ပုဂ္ဂိုလ်တစ်ဦးလက်ထဲတွင် စုပြုံ ရောက်ရှိ နေကြသည်။

အမိန့်ပေးသော ထိပ်ဆုံးမှလူနှင့် အမိန့်ပေးခြင်း ခံရသော အောက်ဆုံးမှ လူ များ၏ ဤသို့ဆက်သွယ် တည်ရှိနေပုံသည် အာဏာဟု ခေါ်ဝေါ်သမုတ်လျက်ရှိ သော စကား၏ အနှစ်သာရပင် ဖြစ်လေသည်။

အဖြစ်အပျက်တို့ မည်သည့် အချိန်ကာလတစ်ခု၏ အတွင်း၌ ဖြစ်ပျက်ကြရ ခြင်း ဖြစ်၏။ ထို့ကြောင့် အချိန် ကာလတည်းဟူသော စည်းကမ်းချက်ဖြင့် ကြည့် သော် အမိန့်တစ်ရပ်သည် ၎င်းနှင့် ဆီလျော်ညီညွတ်သော အဖြစ် အပျက်များ ရှိမှ သာလျှင် လက်တွေ့ အကောင်အထည် ဖော်၍ ရကြောင်းကို ကျွန်ုပ်တို့ တွေ့ရလေ သည်။ အမိန့် ပေးသူနှင့် အမိန့်ပေးခံရသူတို့၏ ဆက်ဆံရေးတည်းဟူ သော စည်းကမ်းချက်ဖြင့်ကြည့်သော် အမိန့်ပေးသူသည် လုပ်ငန်းတွင်

ကိုယ်တိုင်ကိုယ်ကျ ပါဝင်လုပ်ဆောင်ခြင်း မရှိသလောက် နည်း၍ ၎င်း၏အလုပ် သည် အမိန့်ပေး သော အလုပ်မျှသာဖြစ်ကြောင်း တွေ့ရလေသည်။

## အခန်း ၇

အဖြစ်အပျက်တစ်ခု ပေါ်ပေါက်လာသောအခါ၌ လူများ သည် ထို အဖြစ်အပျက်နှင့် စပ်လျဉ်း၍ မိမိတို့ ထင်မြင် ချက်များ၊ ဆန္ဒများကို ထုတ်ဖော် ပြောဆိုလေ့ ရှိကြ၏။ အဖြစ်အပျက်တစ်ခုသည် လူပေါင်းများစွာ၏ စုပေါင်း ဆောင်ရွက်ချက်ကြောင့် ဖြစ်ပေါ်လာခြင်းဖြစ်ရာ ထိုအခါ၌ ထုတ်ဖော်ပြောဆိုခြင်း ပြုကြသော ဆန္ဒများ ထင်မြင်ချက် များအနက် တစ်ခုသည် ထိုအဖြစ်အပျက်နှင့် ကိုက်ညီနေ တတ်၏။ သို့ကိုက်ညီသောအခါ၌ကား ထိုထင်မြက်ချက်၊ ထိုဆန္ဒသည် အဖြစ်အပျက်နှင့် ဆက်စပ်သွားကာ အဖြစ် အပျက်ကို ဖြစ်ပေါ်စေသော အမိန့် တစ်ရပ်သဖွယ် ဖြစ်လာ လေတော့သည်။

လူတစ်စုသည် သစ်တုံးကြီးတစ်တုံးကို ဆွဲလျက် - ရှိကြ၏။ ၎င်းတို့အားလုံး သည် ထိုသစ်တုံးကို မည်သို့မည်ပုံ ဆွဲသင့်သည်ဟူ၍လည်း အသီးသီး ထင်မြင်ချက်ပေးကြ၏။ သို့ဖြင့် သစ်တုံးကြီးကို ဆွဲသွားကြ၏။ ထိုသို့ဖြင့် ထိုသစ် တုံးကြီးကို ဆွဲသွားပုံမှာ ၎င်းတို့အထဲမှ လူတစ်ယောက်၏ ပြောဆိုချက်နှင့် ကိုက် ညီလျက်ရှိ၏။ ထိုအခိုက်၌ ထိုသူ အမိန့်ပေးသူ ဖြစ်လာလေတော့သည်။ ဤကား အမိန့်နှင့် အာဏာတို့၏ မူလအကျဆုံးသော ပုံသဏ္ဍာန် ဖြစ်၏။ ခွန်တိုက်အား တိုက် ပြုလုပ်လျက်ရှိသူ တစ်ယောက်သည် ၎င်း၏ အလုပ်ကို ကောင်းစွာ စဉ်းစား ဝေဖန်ချိန်မရချေ။ ဤသို့ စုပေါင်းဆောင်ရွက်ခြင်းဖြင့် မည်သို့သော အကျိုး တရား ထွက်ပေါ်လာလိမ့်မည်ဟူ၍လည်း စီမံခန့်ခွဲ၍၌ မရ ချေ။ သို့ရာတွင် စီမံခန့်ခွဲသူ၊

အမိန့်ပေးသူကား ၎င်းတွင် ဝစီကံဖြင့် အလုပ်လုပ်နေရခြင်းကြောင့် ကာယကံ အားဖြင့် အလုပ်လုပ်ချိန် နည်းသွားလိမ့်မည် ဖြစ်ပေသည်။

တစ်စုံတစ်ခုသော တူညီသည့် အလုပ်တစ်ခုကို အတူ ပူးပေါင်းဆောင်ရွက် လျက်ရှိသည့် လူစုလူဝေးကြီး တစ်ခု၌ကား ဤသို့ အမိန့်ပေးခြင်း၊ စီမံခန့်ခွဲခြင်း စ သည့် အမှုတို့ကို ဆောင်ရွက်နေရခြင်းကြောင့် ကာယကံ အားဖြင့် ဝင်ရောက် ဆောင်ရွက်နိုင်ခြင်း မရှိသူတို့၏ တသီးတခြား ဖြစ်လျက်ရှိသော အဖြစ်ကို ပိုမို ထင်ရှားစွာ မြင်ရလေသည်။

လူတစ်ယောက်သည် တစ်ယောက်တည်း အလုပ် တစ်ခုကို ပြုလုပ်သည့် အခါ၌ ၎င်းပြုလုပ်ဆောင်ရွက်ပြီးစီး ခဲ့သည့် အမှုကို ဝေဖန်၏။ ရှေ့လုပ်ဆောင်မည့် အမှုကို ကြိုတင်တွေးတော၏။ အလားတူပင် လူစုလူဝေးကြီးတစ်ခု သည်လည်း မိမိတို့ပြုလုပ်သည့် စုပေါင်းဆောင်ရွက်ချက် များနှင့် စပ်လျဉ်း၍ စဉ်းစားခြင်း၊ ဝေဖန်ခြင်း၊ တွေးခေါ် မြော်မြင်ခြင်း စသည့်ကိစ္စများကို ဆောင်ရွက်ရန် လက် တွေ့ ပါဝင်ဆောင်ရွက်ခြင်း မရှိသူများအား နှင်းအပ်ထား ကြလေသည်။

ကျွန်ုပ်တို့သိသော သို့မဟုတ် ကျွန်ုပ်တို့ မသိသော အကြောင်းအမျိုးမျိုး ကြောင့် ပြင်သစ်များသည် အချင်းချင်း သတ်ဖြတ်ခဲ့ကြ၏။ (ပြင်သစ်တော်လှန်ရေး ကို ဆိုလို သည်။) ထိုအခါ၌ ထိုအဖြစ်အပျက်သည် ပြင်သစ်နိုင်ငံ ကြီး ဝပြော စည်ပင်ရေး၊ လွတ်လပ်ရေးနှင့် တန်းတူညီမျှရေးတို့အတွက် ပေါ်ပေါက်ခဲ့ရခြင်း ဖြစ်သည်ဟူသော ယုံကြည်ချက်သည် ပြည်သူလူထု၏ စိတ်ထဲသို့ ထိုအဖြစ် အပျက်နှင့်အညီ ပေါ်ပေါက်ခဲ့ရ၏။ ဤသို့ဖြင့် ထိုအဖြစ် အပျက်သည် မှန်ကန်သည်ဟု လူများက လက်ခံခဲ့ကြလေ သည်။ ထို့နောက် ပြင်သစ်ပြည် လူသတ်ပွဲကြီးသည် ရပ်စဲ သွားခဲ့၏။ (နပိုလီယန် အာဏာထူထောင်ခြင်းကို ဆိုလို သည်။) ထိုအခါ၌ ထိုအဖြစ်အပျက်သည် ပြင်သစ်နိုင်ငံ ကြီး၏ အာဏာကို

ပြန်လည် ထူထောင်ရေး၊ ဥရောပ အန္တ ရာယ်များကို ခုခံကာကွယ်ရေးအတွက် လိုအပ်သည် သာ ဖြစ်သည်ဟု ပြည်သူလူထုများက ယူဆခဲ့ကြပြန် ၏။ ဤသို့ဖြင့် ဤအဖြစ်အပျက်သည် ဖြစ်သင့်ဖြစ်ထိုက် သည်ဟု လူအများက လက်ခံခဲ့ကြ ပြန်၏။ တစ်ဖန် အနောက်မှ လူများသည် အရှေ့ဘက်သို့ ချီတက်လာကြ ကာ လူအချင်းချင်း သတ်ဖြတ်ကြပြန်၏။ (နပိုလီယန် စစ်ပွဲများကို ဆိုလိုသည်။) ထိုအခါ၌ ဤအဖြစ်အပျက် သည် ပြင်သစ်နိုင်ငံကြီး၏ ဘုန်းလက်ရုံးကြီးမားရေး နှင့် အင်္ဂလန်၏ မာန်စွယ်ကို ချိုးပစ်ရေးအတွက် ဖြစ်သင့်ဖြစ် ထိုက်ပါပေသည်ဟု ဆိုလာကြပြန်လေသည်။ ဤသို့ဖြင့် ၎င်းတို့သည် ၎င်းတို့လုပ်သမျှ နည်းလမ်းမှန် ကန်ကြောင်း ပြရန် အကြောင်းအမျိုးမျိုးပြလျက် ရှိကြလေသည်။

ဤအကြောင်းပြချက်များအားလုံးသည် အဓိပ္ပာယ် မရှိရုံမျှမက ရှေ့နောက် ညီညွတ်ခြင်းမရှိကြောင်းကို ရာဇဝင် က ပြသခဲ့လေသည်။ လူ၏ လွတ်လပ်ရေး၊ တန်းတူညီမျှ ရေး စသည့် လူ့အခွင့်အရေးများ၊ လူ၏ ပိုင်ခွင့်များကို ထူထောင်ရန် အတွက် လူသတ်ရသလော။ အင်္ဂလန်ကို ဦးချိုးလိုသည့်အတွက် ရုရှားပြည်တွင်း သို့ ဝင်ရောက် တိုက်ခိုက်၍ လူသန်းပေါင်းများစွာကို သတ်ဖြတ်ခြင်း ပြုရသေ လော။ ဘာဆိုင်သနည်း။ သို့ရာတွင် ဆိုင်သည် ဖြစ်စေ မဆိုင်သည်ဖြစ်စေ၊ အဓိပ္ပာယ်ရှိသည်ဖြစ်စေ မရှိ သည်ဖြစ်စေ ထိုအကြောင်းပြချက်များကား သူ့ ခေတ်နှင့် သူ အရေးကြီးသော အဓိကအကြောင်းပြချက်ကြီးများ ဖြစ်ခဲ့ကြလေ သည်။ ., ဤအကြောင်းပြချက်သည် တာဝန်ရှိသူ ခေါင်း ဆောင်တို့အား အပြစ်မှ လွတ်ငြိမ်းချမ်းသာခွင့်ရအောင် ဆောင်ရွက်ပေးလိုက်သကဲ့သို့ ရှိပေသည်။ ဤ အကြောင်း ပြချက်များသည် ရထားလမ်းပေါ်မှ နှင်းခဲများကို ရှင်းလင်း ရန်အတွက် မီးရထားခေါင်းတွဲရှေ့တွင် တပ်ဆင်ထား သော နှင်းခဲရှင်းသည့် တံမြက်စည်းနှင့် အလားသဏ္ဍာန် တူ၏။ ထိုအကြောင်းပြချက်များသည် တာဝန်ရှိသူ ခေါင်း ဆောင်

ပုဂ္ဂိုလ်များ၏ ကြီးပွားရေး လမ်းတစ်လျှောက်တွင် စုပြုံလျက်ရှိသော ၎င်းတို့၏ ပြစ်တင်ချက်များကို ရှင်းလင်း ပေးလိုက်လေသည်။

ဤအကြောင်းပြချက်များသည် မရှိခဲ့လျှင်လည်း သန်းပေါင်းများစွာသောလူ များသည် စစ်ပွဲများ၊ လူသတ်ပွဲ များ စသည့် ရာဇဝတ်မှုကြီးများကို မည် သည့်အတွက် ကြောင့် စုပေါင်း ကျူးလွန်ခဲ့ရသနည်းဟူသော အရှင်းဆုံး အလွယ် ဆုံး မေးခွန်းကို ဖြေကြားနိုင်မည် မဟုတ်ချေ။

ဥရောပတိုက်၏ နိုင်ငံရေးနှင့် ဆက်ဆံရေး အခြေ အနေသည် များစွာ ရှုပ်ထွေးလျက်ရှိ၏။ ထိုအခြေအနေ၌ ဧကရာဇ်များ၊ ဝန်ကြီးများ၊ လွှတ်တော်များ၊ သတင်းစာများ ၏ အမိန့်ပေးခြင်း၊ တိုက်တွန်းခြင်း၊ လှုံ့ဆော်ခြင်း စသည်တို့ မရှိဘဲ မည်သည့်အဖြစ်အပျက်မျှ ပေါ်ပေါက် နိုင်မည် မဟုတ်ဟု ထင်မှတ်ကြမည်သာ ဖြစ်လေသည်။ ပေါ်ပေါက်လာသမျှသော အဖြစ်အပျက်များသည်လည်း နိုင်ငံရေး ညီညွတ်မှု၊ အမျိုးသားစည်းလုံးရေး၊ အာဏာ ချိန် ခွင်လျှာကို အညီညှိရေး၊ ယဉ်ကျေးမှုတိုးတက်ရေး စသည် တို့ကြောင့် ပေါ်ပေါက်လာရခြင်း ဖြစ်သည်ဟု အကြောင်းပြ မည်သာ ဖြစ်ပေသည်။

စင်စစ်၌ကား ဤသို့မဟုတ်ချေ။ အဖြစ်အပျက်များ သည် မလွဲမရှောင်သာ သော အကြောင်းတရားများကြောင့် ပေါ်ပေါက်လာခြင်းသာ ဖြစ်လေသည်။ ထိုအခါ၌ ထို့အဖြစ် အပျက်များသည် တစ်စုံတစ်ယောက်က ထုတ်ဖော်ပြောဆို ထားသော ဆန္ဒနှင့် ကိုက်ညီနေတတ်၏။ အကြောင်းပြ ချက်များ ပေါ်ပေါက် လာ၏။ ထိုအခါ၌ ထိုအဖြစ်အပျက် သည် ထိုသူ၏ဆန္ဒအရ ဖြစ်ပေါ်လာသကဲ့သို့ ဖြစ်ရလေ တော့သည်။ ထိုသူသည် အမိန့်ပေးသူသဖွယ် ဖြစ်လာရလေ တော့သည်။ သင်္ဘောတစ်စင်းသည် ခုတ်မောင်းလျက်ရှိ၏။ သင်္ဘောဦးမှ လှိုင်းလုံး များသည် ဘေးတစ်ဖက်တစ်ချက်သို့ ဖြာထွက်လျက်ရှိ၏။ မည်သည့်ဒေသသို့

ရှေ့ရှုခုတ်မောင်း သည်ဖြစ်စေ သင်္ဘောဦးမှ ဖြာထွက်လျက်ရှိသော လှိုင်း လုံးများကို မြင်နေရမည်သာ ဖြစ်၏။ သင်္ဘောပေါ်တွင် စီးနင်းလိုက်ပါလာသူအဖို့၌ကား မိမိတို့က လှုပ်ရှားနေသည် ဟု ထင်ရသည်။

သို့ရာတွင် ထိုလှိုင်းလုံးများ၏ လှုပ်ရှားမှုကို သေသေချာချာ ဂရုစိုက်ကြည့်ရှုပြီးနောက် လှိုင်းလုံးများ၏ လှုပ်ရှားမှုနှင့် သင်္ဘော၏ ရွေ့လျားမှုတို့ကို သတိပြု၍ကြည့် လိုက်မိသောအခါ၌ကား ထိုလှိုင်းလုံးတို့သည် သင်္ဘောဦး၏ ရွေ့လျားမှုကြောင့် လှုပ်ရှားနေခြင်းသာဖြစ်ကြောင်း၊ လှိုင်း လုံးများကသာ လှုပ်ရှားနေသည်ဟု ထင်ရခြင်းမှာ မိမိတို့ ကိုယ်တိုင် လှုပ်ရှားလျက်ရှိခြင်းကို မသိသောကြောင့်ဖြစ် ကြောင်းကို သိမြင်လာလိမ့်မည် ဖြစ်ပေသည်။

သင်္ဘောသည် အရပ်တစ်ခုတည်းသို့ ဦးတည် ခုတ်မောင်းလျက်ရှိစဉ်၌ သင်္ဘောဦးတွင်ရှိသော လှိုင်းလုံး သည်လည်း ထိုလှိုင်းလုံးသာ ဖြစ်လေသည်။ သို့ရာတွင် ( သင်္ဘောဦးကို လှည့်လိုက်သည်နှင့် တစ်ပြိုင်နက် သင်္ဘောဦး မှ လှိုင်းလုံးသည်လည်း ပြောင်းသွားခဲ့လေသည်။ ယခင် လှိုင်းလုံး မဟုတ်တော့ပြီ။ သင်္ဘောဦး လှည့်လိုက်သည်နှင့် တစ်ပြိုင်နက် ၎င်း၏ရှေ့တွင် လှိုင်းလုံးသစ်များ ပေါ်လာကြ လေပြီ။

သင်္ဘောသည် မည်သည့်ဒေသသို့ ရှေ့ရှု ခုတ် မောင်းသည်ဖြစ်စေ ရေလှိုင်းများသည် ရှေ့တွင် ဖြာထွက်မြဲ ' သာ ဖြစ်ပေသည်။ ထိုရေလှိုင်းများသည် ၎င်းတို့အလို အလျောက် ပေါ်ပေါက်လာသည်ဟု ထင်မှတ်ရရုံမက ( သင်္ဘော၏ လှုပ်ရှားမှုကို ဖြစ်စေသည်ဟု ထင်မှတ်ရ၏။ စင်စစ်၌ကား သင်္ဘောဦးမှ ဖြာထွက်သော လှိုင်းတို့သည် သင်္ဘော၏ လှုပ်ရှားမှုကို ဦးဆောင်ခြင်းလည်း မပြုနိုင်။ သင်္ဘော၏ အရှိန်ကို လျင်မြန်အောင်လည်း မတတ်နိုင် ချေ။ ၎င်းတို့သည်ပင်လျှင် သင်္ဘောကြောင့် ပေါ်ထွက်လာရ ခြင်းသာ ဖြစ်လေသည်။

ရာဇဝင်ဇာတ်ဆောင်များကို ကြည့်သည့်အခါ၌ လည်း ဤအတိုင်း မြင်ရမည် ဖြစ်လေသည်။ အဖြစ်အပျက် များ၊ ပြည်သူများသည် သင်္ဘောကြီးနှင့်တူ၍ ရာဇဝင်ဇာတ် ဆောင်များကား လှိုင်းလုံးများနှင့် တူပေသည်။ ၎င်းတို့ သည် ပြည်သူလူထု၏ရှေ့တွင် ရောက်နေသောကြောင့် ပြည်သူလူထုကို ရှေ့ဆောင်လျက်ရှိသည်ဟု ထင်မှတ်ရ သော်လည်း ၎င်းတို့သာလျှင် ပြည်သူလူထု၏ လှုပ်ရှားမှု ကြောင့် ပေါ်ပေါက်လာရခြင်း ဖြစ်လေသည်။ ၎င်းတို့သည် ပြည်သူ လှုပ်ရှားမှုကို ဦးဆောင်ခြင်းလည်း မပြုနိုင်။ ပြည်သူ လူထု၏ လှုပ်ရှားမှုအရှိန်ကို လျှင်မြန်အောင်လည်း မတတ် နိုင်ချေ။

ရာဇဝင်ဆရာများသည် အဖြစ်အပျက်များနှင့် ဆက်စပ်၍ ပေါ်ပေါက်လာသော ရာဇဝင်ကျော်၊ ပုဂ္ဂိုလ် ကျော်များ၏ ဆန္ဒဖော်ပြချက်များကို အမိန့်အဖြစ်ယူဆ ကြ၏။ ထိုအမိန့်များကြောင့် အဖြစ်အပျက်များ ပေါ်ပေါက် လာခြင်း ဖြစ်သည်ဟုလည်း ထင်မှတ်ကြလေသည်။ သို့ရာ တွင် အဖြစ်အပျက်များနှင့်တကွ ရာဇဝင်ကျော် ပုဂ္ဂိုလ် များနှင့် ပြည်သူလူထုများ၏ ဆက်သွယ်မှုကို သေချာစွာ လေ့လာကြည့်သောအခါ၌ကား အဖြစ်အပျက်များကြောင့် သာ ထိုပုဂ္ဂိုလ်များနှင့် ၎င်းတို့၏ အမိန့်များ ပေါ်လာခြင်း ဖြစ်ကြောင်းကို ကျွန်ုပ်တို့ တွေ့ရလေသည်။ အမိန့်များ မည်မျှ များပြား ထုတ်ပြန်စေကာမူ အဖြစ်အပျက်တစ်ခု သည် အခြားသော အကြောင်းများ မရှိခဲ့လျှင် မည်သည့် နည်းနှင့်မျှ ပေါ်ပေါက်နိုင်မည် မဟုတ်ချေ။ သို့ရာတွင် အဖြစ်အပျက်တခု ပေါ်ပေါက်လာသည်နှင့် လူအမျိုးမျိုး က ထင်မြင်ချက်အမျိုးမျိုး၊ ဆန္ဒအမျိုးမျိုးကို ထုတ်ဖော်လာ ကြကာ ၎င်းတို့အနက်မှ ဆန္ဒတစ်ခုသည် ကာလအားဖြင့် လည်းကောင်း၊ အဓိပ္ပာယ်အားဖြင့်လည်းကောင်း ထိုအဖြစ် အပျက်နှင့် ကိုက်ညီတတ်ကာ အမိန့်တစ်ရပ်သဖွယ် ဖြစ်လာတတ်လေသည်။ ဤသည်ကိုထောက်လျှင် ခေါင်း ဆောင်များ၏ အမိန့်ကြောင့် အဖြဒ်

အပျက်များကို အမှီ ပြု၍သာ အမိန့်များ ဖြစ်ပေါ်လာခြင်းဖြစ်ကြောင်း သိသာနိုင် လေသည်။

ဤသို့ နိဂုံးချုပ်နိုင်လျှင် ရာဇဝင်၏ အဓိကမေးခွန်း ကြီးနှစ်ရပ်ကို ကျွန်ုပ်တို့ ရှင်းလင်းပြတ်သားစွာ ဖြေဆိုနိုင် လေသည်။

(၁) အာဏာဆိုသည်မှာ မည်သည့်အရာနည်း။ (၂) မည်သည့်အားခုကြောင့် ပြည်သူလူထု များ၏ လှုပ်ရှားမှုများ ပေါ်ပေါက်လာရသနည်း။

(၁) အာဏာဟူသည် တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်နှင့် အခြားသောလူ များ၏ ဆက်ဆံရေးကို ခေါ်ဆို ခြင်းဖြစ်သည်။ ထိုဆက်ဆံရေးအရ ထိုပုဂ္ဂိုလ်သည် လူ အများစု စုပေါင်းလုပ်ရသော အလုပ်တစ်ခုတွင် ထင်မြင် ချက်များ၊ နိမိတ်ဖတ် ချက်များ၊ အကြောင်းပြချက်များကို များများပြောဆို၍ လက်တွေ့အလုပ်ကို နည်း နည်းလုပ် သည်။ ထိုဆက်ဆံရေးမျိုးကို အာဏာဟု ခေါ်သည်။

(၂) ပြည်သူလူထုများ၏ လှုပ်ရှားမှုများသည် အာဏာကြောင့် ပေါ်ပေါက် လာခြင်း မဟုတ်။ အသိဖွံ့ဖြိုး ရေးဆောင်ရွက်ချက်များကြောင့်လည်း မဟုတ်။ (ရာဇဝင် ဆရာတို့ ပြောသကဲ့သို့) အာဏာနှင့် အသိပညာ ဖွံ့ဖြိုး ရေးဆောင်ရွက် ချက်တို့ နှစ်ခုပေါင်းစပ် စေ့ဆော်ချက် ကြောင့် ပေါ်ပေါက်လာခြင်းလည်း မဟုတ်။ အဖြစ်အပျက် များတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်သော အားလုံးသော ပြည်သူလူထုများ၏ ဆောင်ရွက်ချက်ကြောင့် ပေါ်ပေါက် လာခြင်း ဖြစ်သည်။ အများဆုံး ပါဝင်လုပ်ဆောင်သော် လည်း အနည်းဆုံး အခွင့်အရေးရှိသူများနှင့် အနည်းဆုံး လုပ်ဆောင်ရသော်လည်း အများဆုံးအခွင့်အရေးရသူ နှစ်မျိုး နှစ် စား၏ ပူးပေါင်းဆောင်ရွက်ချက်များကြောင့် ဖြစ်ပေါ် လာသည်။

အဖြစ်အပျက်များ ပေါ်ပေါက်လာပုံကို ကြည့်လျှင် သဘောတရားအားဖြင့် အာဏာလက်ကိုင် ရှိသူများ၏ စိတ်ပိုင်းဆောင်ရွက်ချက်များကြောင့် ပေါ်ပေါက်

လာခြင်း ဖြစ်သည်ဟု ထင်ရ၏။ လက်တွေ့အားဖြင့်ကား အာဏာကို လိုက်နာသူတို့၏ ရုပ်ပိုင်းဆောင်ရွက်ချက်များကြောင့်ဟု ထင်မှတ်ရလေသည်။ သို့ရာတွင် ရုပ်ပိုင်းဆိုင်ရာ ဆောင် ရွက်ချက်မရှိဘဲ စိတ်ပိုင်းဆိုင်ရာ ဆောင်ရွက်ချက် မရှိနိုင်ချေ။ ကမ္မပိုင်းဆိုင်ရာ ဆောင်ရွက်ချက်မရှိဘဲ ကတ္တားပိုင် ဆိုင်ရာ ဆောင်ရွက်ချက် မရှိနိုင်ချေ။ ထို့ကြောင့် အဖြစ် အပျက်တစ်ခုဖြစ်ပေါ်ခြင်းအကြောင်းရင်းသည် ကတ္တား ပိုင်းဆိုင်ရာ တစ်ခုတည်းအပေါ်၌လည်း မတည်၊ ကမ္မပိုင်း ဆိုင်ရာ ဆောင်ရွက်ချက်တစ်ခုတည်းအပေါ်၌လည်း မတည် ချေ။ ကတ္တားပိုင်းနှင့် ကမ္မပိုင်း ဆိုင်ရာ ဆောင်ရွက်ချက် နှစ်ခုစလုံးအပေါ်တွင် တည်ပေသည်။

တစ်နည်းဆိုရသော် အကြောင်းတရားတစ်ခုသည် လူပုဂ္ဂိုလ်တစ်ယောက်သို့မဟုတ် တစ်စုကြောင့် ဖြစ်ပေါ် လာခြင်းမဟုတ်ချေ။

နောက်ဆုံး၌ ကျွန်ုပ်တို့သည် အဆုံးမရှိ၊ အစမရှိ သော သံသရာစက်ဝိုင်းသို့ ပြန်ရောက်ရမည်သာ ဖြစ်၏။ အပျင်းပြေ တွေးခေါ်စဉ်းစားခြင်း မဟုတ်လျှင် လူ၏ ဆင်ခြင်တုံတရားသည် ထိုနိဂုံးသို့ ဆိုက်ရောက်ရမည်သာ ဖြစ်လေသည်။ လျှပ်စစ်ဓာတ်သည် အပူကို ထုတ်၍ အပူ သည် လျှပ်စစ်ဓာတ်ကိုထုတ်၏။ အနုမြူများသည် တစ်ခု နှင့် တစ်ခု ဆွဲငင်ခြင်းကိုပြုကြ၍ တွန်းလှန်ခြင်းကိုလည်း ပြုကြသည်သာ ဖြစ်ပေသည်။

လျှပ်စစ်ဓာတ်နှင့် အပူသည် မည်သည့်အတွက် ကြောင့် ဤသို့ အပြန်အလှန် ဆက်သွယ်နေကြသနည်း။ ဤသည်ကို ကျွန်ုပ်တို့ မပြောနိုင်ချေ။ ဤသို့ အပြန်အလှန် ဆက်သွယ်တည်ရှိနေခြင်းမှာ ထိုနည်းမှအပ တခြားနည်း ဖြင့် မတည်ရှိနိုင်သောကြောင့် ဖြစ်သည်ဟုသာ ပြောနိုင် လေသည်။ ထိုအတိုင်း မတည်ဘဲ မဖြစ်သောကြောင့် ဖြစ်သည်ဟု ပြောနိုင်လေသည်။ ထိုသို့ တည်ရှိနေခြင်းသည် ပင် နိယာမတရားဖြစ်သည်ဟုသာ ပြောနိုင်လေသည်။ ရာဇဝင်

အဖြစ်အပျက်များကို ကြည့်မြင်ရာ၌လည်း ထို့ အတူပင် ဖြစ်လေသည်။ စစ်ပွဲများ နှင့် တော်လှန်ရေးများ မည်သည့်အတွက်ကြောင့် ဖြစ်ပွားလာခဲ့သနည်း။ ဤသည် ကို ကျွန်ုပ်တို့ မသိချေ။ ကျွန်ုပ်တို့သိသည်မှာ ဆောင်ရွက် ချက်တစ်ခု ဖြစ်ပေါ်ရေး အတွက် လူများသည် တစ်စုံတစ်ခု သော အစုအဝေးတစ်ခု၌ အတူတကွ ပါဝင် ဆောင်ရွက် ကြရသည်ဆိုသည့်အချက်သာ ဖြစ်လေသည်။ ဤသို့ဖြစ် ခြင်းမှာ လည်း ထိုနည်းမှလွဲ၍ အခြားနည်းဖြင့် မဖြစ်နိုင် သောကြောင့် ဖြစ်သည်။ တစ် နည်းဆိုရသော် ထိုသို့ ဖြစ်ရခြင်းသည်ပင်လျှင် နိယာမတရားဖြစ်သည်ဟုသာ ပြော နိုင်ပေသည်။

# အခန်း ၈

ရာဇဝင်သည် ဩကာသလောကကြီးနှင့် သက်ဆိုင်သည် ဆိုလျှင် ဤ အဖြစ်အပျက်၊ ထိုအဖြစ်အပျက်များ ဖြစ်ပျက် ရခြင်းသည် နိယာမတရားကြောင့် ဖြစ်သည်ဟု ပြောရုံဖြင့် ကိစ္စပြီးနိုင်၏။ နောက်ထပ် အကျယ်ဆွေးနွေးဖွယ် မရှိ တော့ချေ။ သို့ရာတွင် ရာဇဝင်သည် ဩကာသလောကကြီး နှင့် မဆိုင်ချေ။ သတ္တလောကကြီးနှင့် ဆိုင်ပေသည်။ လူ့ လောကကြီးနှင့် သက်ဆိုင်ပေသည်။ ဩကာသလောက ကြီးသည် သက်မဲ့တို့ဖြင့် ဖွဲ့စည်းထားခြင်းဖြစ်၏။ ထို့ ကြောင့် အနုမြူများ၏ ဆွဲငင်ခြင်းနိယာမ၊ သို့မဟုတ် တွန်းကန်ခြင်း နိယာမကို မမှန်ဟု ရုပ်ဝတ္ထုတစ်ခု၏ ပရအနုမြူကလေးတစ်ခုက ထ၍ ငြင်းခုံနိုင်သည် မဟုတ် ချေ။ သို့ရာတွင် သတ္တလောကကြီး၊ လူ့လောကကြီးကား သက်ရှိများဖြင့် ဖွဲ့စည်းထား ခြင်းဖြစ်၏။ လူများဖြင့် ဖွဲ့စည်းထားခြင်း ဖြစ်၏။ ထို့ကြောင့် လူကမူ နိယာမ တရားဆိုတိုင်း လက်ခံလိမ့်မည် မဟုတ်ချေ။ “သင်တို့က ကျွန်ုပ်အား

နိယာမတရား၏ လက်အောက်ခံဟု ပြောကြ ၏။ သင်တို့စကား မမှန်ချေ။ ကျွန်ုပ် သည် လွတ်လပ်သည်။

ထို့ကြောင့် ကျွန်ုပ်သည် နိယာမတရား၏ လက်အောက်ခံ . မဟုတ်”ဟု လူက ငြင်းဆိုပေသည်။ , လူသည် လွတ်လပ်သလော။ နိယာမတရား၏ လက်အောက်ခံလော။ လူ၏စိတ် လွတ်လပ်သလော။ နိယာမတရာ.၏ သြဇာခံ လော။ ဤပြဿနာသည် ရာဇဝင် ၏ အဆင့်တိုင်းတွင် ကြုံတွေ့နေရသည့် ပြဿနာဖြစ်၏။ . လေးနက်စွာ စဉ်းစားတွေးခေါ်တတ်သော ရာဇဝင် ဆရာ များသည် အဆိုပါ ပြဿနာကို မလွှဲမရှောင်သာ ကြုံတွေ့ခဲ့ကြရ၏။ ရာဇဝင် အူပေါက် ဖြစ်နေရခြင်းမှာ ‘ထိုပြဿနာများကို မဖြေရှင်းနိုင်သောကြောင့် ဖြစ်လေ သည်။ ရာဇဝင်သိပ္ပံပညာက လမ်းမှားကို လိုက်ခဲ့ခြင်းမှာ လည်း ထိုပြဿနာကို မ ဖြေရှင်းနိုင်သောကြောင့် ဖြစ်လေ သည်။

( အကယ်၍ လူ၏စိတ်သည် လွတ်လပ်သည်ဟုဆို လျှင် (ဝါ) လူသည် မိမိ ကြိုက်သည့်အရာကို လုပ်နိုင် သည်ဆိုလျှင် ရာဇဝင်ကြီးတစ်ခုလုံးသည် အဆက်အစပ် မရှိသော အဖြစ်အပျက်များကို စုစည်းထားသော အစု အဝေးကြီး တစ်ခုသာ ဖြစ်နေလိမ့်မည် ဖြစ်လေသည်။

လူသည် လွတ်လပ်စွာ လုပ်ဆောင်နိုင်သည်ဆိုလျှင် (ဝါ) မိမိသဘောကျ လုပ်ဆောင်နိုင်သည်ဆိုလျှင် (နှစ် ပေါင်းတစ်ထောင်၊ တစ်သန်းအတွင်း ဤသို့လုပ် နိုင်သူ တစ်ယောက်မျှသာ ပေါ်ခဲ့သည်ပင် ထားပါဦး။) လူ့လော ကကြီးကို နိယာမတရားများက စိုးမိုးနေသည်ဟူသော စကားသည် မှန်နိုင်တော့မည် မဟုတ် ချေ။ . တစ်ဖန်လောက၌ လူ၏အပြုအမူ၊ လူ၏ အလုပ် တို့ကို နိယာမတရားများ က (တစ်ခုကမျှပင် ဖြစ်စေ) စိုး မိုးနေသည်ဆိုလျှင်လည်း လူ၌ လွတ်လပ်သော စိတ်ဆန္ဒဟူ ၍ ရှိနိုင်တော့မည် မဟုတ်ချေ။

ဤသည်တို့ကား လူ၌ လွတ်လပ်သော စိတ်ဆန္ဒ ရှိ မရှိ ဟူသော ပြဿနာနှင့် ပတ်သက်၍ စဉ်းစားဖွယ် အချက်များ ဖြစ်၏။ ထိုအချက်များသည် ကမ္ဘာဦးက တည်း က ပေါ်ပေါက်လာခဲ့ကြခြင်း ဖြစ်၏။ အထက်မြက်ဆုံး သော ပညာရှင်တို့ ကမ္ဘာဦးကတည်းက ရှာဖွေစစ်ဆေးခဲ့ ကြသော အချက်အလက်များ ဖြစ်၏။

ဘာသာရေး၊ ရာဇဝင်၊ လူကျင့်ဝတ္တရား၊ အဘိဓမ္မာ စသည့် ရှုထောင့်များမှ ကြည့်လျှင် လူသည် (အခြင်းအရာ များအားလုံးကဲ့သို့ပင်) "လိုအပ်ခြင်း နိယာမတရား"၏ လက်အောက်ခံ ဖြစ်ကြောင်းကို တွေ့ရ၏။ သို့ရာတွင် ' ကျွန်ုပ်တို့ အတွင်းစိတ်၊ ကျွန်ုပ်တို့၏ "သိစိတ်"အရ လေ့လာသော် လူသည် လွတ်လပ်သည်ဟု ထင်ရ၏။ သို့ဖြစ်လျှင် မည်သည့်အချက်က မှန်သနည်း။ ဤသည် မှာ လွတ်လပ်သော စိတ်မရှိ ဟူသော ပြဿနာ၏ အနှစ် သာရ ဖြစ်၏။

.ငါဟု သိခြင်း၊ အတ္တကို သိခြင်း၊ ဝိညာဉ်ကို သိခြင်းသည်ထို "သိမိတ်ကြောင့် သိခြင်းဖြစ်၏။ "သိစိတ်" သည် ဆင်ခြင်တုံတရား၏ လက်အောက်ခံ မဟုတ်ချေ။ သူသည် ဆင်ခြင်တုံတရား၏။ မိမိကိုယ်ကို မိမိ စူးစမ်းခြင်း ပြုသည် မှန်သော်လည်း "သိစ်တ်"ဖြင့်သာ အတ္တကို သိခြင်း ဖြစ်လေသည်။ ဝိညာဉ်ကို သိခြင်း ဖြစ်လေသည်။

အတ္တကိုသိသော "သိဒိတ်" မရှိတော့သည်နှင့် တစ်ပြိုင်နက် ဆင်ခြင်တုံတရားဟူ၍လည်း ရှိနိုင်တော့မည် မဟုတ်ချေ။ . . လူသည် မိမိကိုယ်ကို မိမိ အသက်ရှင်လျက်ရှိ ကြောင်းကို သိရမည်။ သို့မှသာ နားလည်နိုင်သော တန်ခိုးသတ္တိ ရှိမည်ဖြစ်၏။ ငုဝမ်းနိုင်သော တန်ခိုးသတ္တိ ရှိမည် ဖြစ်၏။ သို့ဖြဖ်လျှင် လူသည် မိမိကိုယ်ကို မိမိ ဝိညာဏက သက်ရှိသတ္တဝါတဦးခ်ကြောင်းကို မည် သည့် အခါ၌ သိသနည်း။ စိတ်ဆန္ဒကို ဖြ်ပေါ်စေနိုင်သော တန်ခိုးသတ္တိ၊ (ဝါ) ငါဟု သိသောအသိ၊ (ဝါ) အတ္တကို သိသောအသိ ရှိသည့်အခါ၌ မိမိကိုယ်ကိုမိမိ ဝိညာဏက

သတ္တဝါတစ်ဦး ဖြစ်ကြောင်း သိလာ၏။ သို့ဖြစ်လျှင် စိတ်ဆန္ဒသည် မည်သို့ဖြစ်ပေါ်လာသနည်း စိတ်ဆန္ဒသည် မည်သည့်အရာကိုမျှ မှီခြင်း၊ တည်ခြင်းမရှိ။ မည်သည့်အရာ နှင့် ဆက်သွယ်ခြင်း မရှိ။ လွတ်လပ်စွာ တည်ရှိနေသော အရာဖြစ်သည်ဟု လူက ယူဆ၏။

လူတစ်ယောက်သည် မိမိကိုယ်ကို မိမိ ပြန်၍ စူးစမ်းဆင်ခြင်၏။ မည်သည့်အတွက်ကြောင့် အစာစားရန်၊ ဦးနှောက်ကို အသုံးပြုရန်၊ အိပ်စက်နားနေရန် လိုအပ် သနည်း စသည်ဖြင့် စစ်ဆေး၏။ ထိုအခါ၌ ၎င်း၏ စိတ်ဆန္ဒကို နိယာမတရားတစ်ခုက အခါခပ်သိမ်း ရှေ့ ဆောင်ညွှန်ကြားလျက်ရှိခြင်းကို တွေ့ရ၏။ ဤတွင် ၎င်း၏စိတ်ကို အခါခပ်သိမ်း ရှေ့ဆောင်ညွှန်ကြားလျက်ရှိ သောအရာသည် ၎င်း၏စိတ်ဆန္ဒကို ချုပ်နှောင်ထားသည့် အရာဟု မြင်၏။ လောက၌ လွတ်လပ်ခြင်းမရှိဘဲ ချုပ်နှောင်ခြင်း မရှိနိုင်။ ယခု ၎င်း၏စိတ်ကို ချုပ်နှောင် ထားသော အရာဟူ၍ ရှိသည်။ ထို့ကြောင့် ၎င်း၏စိတ်သည် လွတ်လပ်မှုရှိခြင်းကြောင့်ပင် နိယာမတရား၏ ချုပ်နှောင် ခြင်းကို ခံရသည့် အဖြစ်သို့ ရောက်ရှိခြင်းဖြစ်သည်ဟု ထင်၏။

ထို့ကြောင့် လူက စောဒကတက်၏။ "သင်က ကျွန်ုပ်ကို မလွတ်လပ်ဟု ပြောသည်။ သို့ရာတွင် ကျွန်ုပ် သည် လက်ကိုမြှောက်လိုက မြှောက်နိုင်သည်။ ချလိုက ချနိုင်သည်။ ကျွန်ုပ်၏ စိတ်ဆန္ဒအရ ပြုနိုင်သည်။ ဤ သည်ပင်လျှင် စိတ်ဆန္ဒ၏ လွတ်လပ်မှုကို ဤသို့ သာဓက ဆောင်ကြ၏။ ဤအဆိုသည် ယုတ္တိကင်းမဲ့သော အဆိုမျှ သာ ဖြစ်လေသည်။ ဤအဖြေသည် ဆင်ခြင်တုံတရား၏ လက်အောက်ခံမဟုတ်သော "သိစိတ်"တစ်မျိုးကို ဖော်ပြ ခြင်းဖြစ်၏။

လွတ်လပ်ခြင်းကိုသိသော "သိစိတ်"သည် အတ္တကို သိသော သိစိတ်၏ တစ်စိတ်တစ်ဒေသ ပစ္စည်းဖြစ်၏။ အတ္တကို သိသော "သိစိတ်"၏ ပစ္စည်းမဟုတ်

လျှင် ၎င်း သည် ဆင်ခြင်တုံတရားနှင့် အတွေ့အကြုံ၏ လက်အောက် ခံပစ္စည်းသာ ဖြစ်ရပေလိမ့်မည်။ သို့ရာတွင် ၎င်းသည် ဆင်ခြင်တုံတရားနှင့် အတွေ့အကြုံ လက်အောက်ခံပစ္စည်း မဟုတ်သည်မှာကား သေချာပေသည်။ "လူသည် တစ်စုံတစ်ခုသော နိယာမတရားများ၏ လက်အောက်ခံ ဖြစ်၏။ လူသည် ထို နိယာမတရားများ ကို လိုက်နာရ၏။ ဤသည်ကို လက်တွေ့ စမ်းသပ်စစ် ဆေးမှု များက သက်သေပြခဲ့ပြီးဖြစ်၏။ လုံးဝ လွတ်လပ် ခြင်းဟူသည် တကယ် လက်တွေ့၌ မရှိနိုင်ကြောင်းကိုလည်း လက်တွေ့စမ်းသပ် စစ်ဆေးမှုများက ပြသခဲ့ ပြီး ဖြစ်၏။ လူ၏ အပြုအမူ၊ လူ၏ အလုပ်တိုင်းသည် လူ့အသင်း အပင်း၊ လူ၏ စိတ်နေသဘောထားနှင့် ၎င်း၏အပေါ်တွင် သက်ရောက်လျက်ရှိသော စေ့ဆော် ရေး အင်အားစုများ အပေါ်တွင် အမှီပြုလျက်ရှိကြောင်းကို လက်တွေ့ စမ်းသပ် စစ်ဆေးမှုများက ထုတ်ဖော်ပြသခဲ့သော ကောက်ချက်များ ကို လက်မခံခဲ့ချေ။ ကျောက်ခဲတစ်လုံးကို အပေါ်သို့ ပစ် လိုက်သောအခါ၌ ထိုကျောက်ခဲသည် အောက်သို့ ပြန်ကျ လာတတ်ကြောင်းကို လက်တွေ့စမ်းသပ် စစ်ဆေးခြင်းအား ဖြင့် သိရ၏။ လူသည် ထိုနိယာမကို ခြွင်းချက်မရှိ လက် ခံ၏။ ထို့ကြောင့် မိမိ ကိုယ်တိုင် လိုက်နာရမည့် နိယာမ တရားများလည်း ရှိလိမ့်မည်ဟု လေ့လာ စူးစမ်း၏။

သို့ရာတွင် မိမိ၏ စိတ်ဆန္ဒသည် နိယာမတရား များကို လိုက်နာရသည် ဟူသော အချက်ကို တွေ့ရှိလာ သောအခါ၌ကား လူသည် ထိုအချက်ကို ယုံကြည် ခြင်း မရှိချေ။ ယုံလည်း မယုံနိုင်ချေ။

တစ်စုံတစ်ခုသော စိတ်နေသဘောထားရှိသည့် လူတစ်ယောက်သည် တစ်စုံတစ်ခုသော အခြေအနေ၌ တစ်စုံတစ်ခုသော အလုပ်တစ်ခုကို ပြုလုပ် မိသည် ဖြစ်အံ့။ နောက်တစ်ဖန် ' အလားတူ စိတ်သဘောထားဖြင့်ပင် အလားတူ

အခြေအနေတစ်ခုအောက်၌ အလားတူ အလုပ် မျိုးတစ်ခုကို ပြုလုပ်မိဦးမည်သာ ဖြစ်လေသည်။ ဤသည် ကို ဆင်ခြင်တုံတရားကလည်းကောင်း၊ လက်တွေ့ စမ်းသပ် စစ်ဆေးမှုကလည်းကောင်း သက်သေပြခဲ့ပြီး ဖြစ်ပေသည်။ သို့ရာတွင် ထို လူ၏စိတ်၌ကား ဤသို့မထင်ချေ။ ၎င်း၏ စိတ်ဆန္ဒအလျောက် လွတ်လပ်စွာ လုပ်ဆောင်ခြင်းသာ ' ဖြစ်သည်ဟု ထင်လျက်ရှိလေသည်။ ထပ်တူထပ်မျှ တူညီ သော အခြေအနေများအောက်၌ ကွဲပြားခြားနားသော အပြုအမူ၊ ကွဲပြား ခြားနားသော ဆောင်ရွက်ချက်ဟူ၍ မရှိနိုင်ကြောင်းကို ဆင်ခြင်တုံတရားက လည်းကောင်း၊ လက်တွေ့စမ်းသပ်စစ်ဆေးမှုကလည်းကောင်း မငြင်းသာ အောင် သက်သေပြခဲ့ပြီး ဖြစ်၏။ သို့သော်လည်း လူကမူ (အကျင့်သီလအရာတွင် ပြည့်စုံ သော ရဟန္တာဖြစ်စေ၊ အကျင့်သီလအရာ၌ ချွတ်ခြုံကျလျက်ရှိသည့် လူ့ဗာလ ဖြစ် စေ) ၎င်း၏ စိတ်ဆန္ဒသည် နိယာမတရားများ၏ လက်အောက်ခံ ဖြစ်သည်နှင့် တစ်ပြိုင်နက် (စိတ်ဆန္ဒ၏ လွတ်လပ်မှု မရှိသည်နှင့် တစ်ပြိုင်နက်) လောကတွင် ဘဝဟူ၍လည်းကောင်း၊ အသက်ရှင် နေထိုင်ခြင်းဟူ၍ လည်းကောင်း မရှိတော့ဟု ထင်မှတ်တတ်ကြလေသည်။ စိတ်ဆန္ဒ၏ လွတ်လပ်မှုဆိုသည် မရှိဟု မည်သူက မည် မျှပြောစေကာမူ လူကမူကား စိတ်ဆန္ဒ၏ လွတ်လပ်မှု ဆိုသည့်အရာရှိသည် ဟု ယုံကြည်လျက်သာ ရှိလေသည်။ ၎င်း၏အထင်၌ လောကတွင် စိတ်ဆန္ဒ၏ လွတ်လပ်မှု ဆိုသောအရာ မရှိတော့သည်နှင့် လူ့ဘဝကို နားလည်နိုင် ခြင်း မရှိ တော့ရုံမျှမက လူ့ဘဝတွင် တဒင်္ဂကလေးမျှ အသက်ရှင် တည်ရှိခြင်း မပြုနိုင်တော့ ဟု ထင်မှတ်လျက် ရှိပေသည်။

လူ၏အထင်၌ လူ၏ ကြိုးပမ်းဆောင်ရွက်ချက် အားလုံး၊ ရုန်းကန်လှုပ်ရှားမှု အားလုံးသည် စိတ်ဆန္ဒ၏ လွတ်လပ်မှု နယ်နိမိတ်ကို တိုးချဲ့ရန် ဖြစ်သည်ဟု ယူဆ ၏။ ထို့ကြောင့် လွတ်လပ်ခြင်းမရှိဘဲ အသက်ရှင် လှုပ် ရှားခြင်း မရှိနိုင်ဟု ယူဆ၏။ ၎င်း၏ အထင်၌ ချမ်းသာ ခြင်းနှင့် ဆင်းရဲခြင်း၊ ကျော်ကြားခြင်းနှင့် မ

ထင်ရှားခြင်း၊ အာဏာရှိခြင်းနှင့် အာဏာမဲ့ခြင်း၊ အားကြီးခြင်းနှင့် အားနည်းခြင်း၊ ကျန်းမာခြင်းနှင့် မကျန်းမာခြင်း၊ အသိ ဉာဏ်ပညာ ပြည့်စုံခြင်းနှင့် မိုက်မဲခြင်း၊ အလုပ်လုပ်ခြင်းနှင့် ပျင်းရိခြင်း၊ ဝလင်စွာ စားသောက်ရခြင်းနှင့် ငတ်မွတ်ခြင်း၊ ကောင်းခြင်းနှင့် မကောင်းခြင်း စသည်တို့အားလုံးသည် လွတ်လပ်ခြင်းကို ဖော်ပြသည့် ပမာဏအတိုင်းအတာများ . သာ ဖြစ်သည်ဟု ယူဆ၏။ လွတ်လပ်မှု အနည်းအများ အကြီးအသေးသာ ကွာခြားကြသည်ဟု ထင်၏။

' လွတ်လပ်ခြင်းမရှိသော လူတစ်ယောက်သည် အသက်ကင်းမဲ့လျက်ရှိသော လူတစ်ယောက်သာ ဖြစ်ပေ သည်။

- ဆင်ခြင်တုံတရား၏ အမြင်၌ လွတ်လပ်မှုဟူသော အရာသည် အဓိပ္ပာယ်ကင်းမဲ့သောအရာ၊ ရှေ့နောက် ညီညွတ်ခြင်းမရှိသောအရာ၊ အကျိုးတရားမရှိဘဲ ပေါ်ထွက်  လာသော အကြောင်းတရား ဖြစ်သည်ဆိုလျှင် “သိစိတ်” သည် ဆင်ခြင်တုံတရား၏ လက်အောက်ခံမဟုတ်ကြောင်း ကို ပြသနေခြင်းပင် မဟုတ်ပါလော။

ဤသို့ဖြင့် လက်တွေ့ စမ်းသပ်စစ်ဆေးမှုများက မည်သို့ပင် ငြင်းဆိုလျက်ရှိစေကာမူကား လောက၌ လွတ် လပ်မှုဟူ၍ ရှိသည်။ လွတ်လပ်မှုကို သိသော သိစိတ် ဟူ၍လည်းရှိသည်ဟု ယူဆလျက် ရှိကြလေသည်။ ဤ ကား တစ်ဖက်၏အမြင် ဖြစ်သည်။ လူ၌ လွတ်လပ်မှု ရှိသည်ဟု ယူဆသူတို့၏ တင်ပြချက် ဖြစ်၏။

လူသည် အလုံးစုံ တန်ခိုးရှိသော၊ အလုံးစုံကောင်း သော၊ အလုံးစုံ သိမြင်သော ဘုရားသခင်၏ ဖန်ဆင်းချက် ဖြစ်၏။ လူ၏ စိတ်ဆန္ဒသည် လွတ်လပ်သလော။ လွတ် လပ်သည်ဟုဆိုလျှင် မည်သည့်အတွက်ကြောင့် ဤအရာ ကား

သုစရိုက်၊ ဤအရာကား ဒုစရိုက်ဟု ပညတ်ချက်များ သတ်မှတ်ထားရသေးသနည်း။ ဤကား ဘာသာတရားက ဖြေဆိုရမည့် ပုစ္ဆာဖြစ်၏။

လူ၏ အပြုအမူများ ဆောင်ရွက်ချက်များသည် ပြောင်းလဲခြင်း မရှိသော ယေဘုယျနိယာမတရားများကို လိုက်နာရ၏။ လူ၏ စိတ်ဆန္ဒသည် လွတ်လပ်သည်ဟု ဆိုလျှင် လူသည် လူ့အဖွဲ့ အစည်းကြီးအတွက် ထိုထို ဤဤသော တာဝန်များကို ထမ်းဆောင်သင့်သည်ဟူသော ပညတ်ချက်များသည် မည်သည့်အတွက်ကြောင့် ပေါ် ပေါက်လာခဲ့သနည်း။ ဤကား `တရားဥပဒေဆိုင်ရာ သိပ္ပံပညာက ဖြေဆိုရမည့် ပုစ္ဆာဖြစ်၏။

. လူ၏ အပြုအမူများသည် ၎င်း၏ ပကတိစိတ် နေသဘောထားမှ ပေါ်ထွက်လာခြင်း ဖြစ်၏။ ၎င်းအား စေ့ဆော်လျက်ရှိသော အကြောင်းတရားများမှ ပေါ်ထွက် လာခြင်း ဖြစ်၏။ လူ၏စိတ်သည် လွတ်လပ်သည်ဆိုလျှင် ဤအရာကား ကောင်း၏။ ဤအရာကား မကောင်း၊ ဤအရာကားမှန်၏။ ဤအရာကား မမှန် ဟူသော ပညတ် ချက်များနှင့်တကွ ဩတ္တပတရားများ မည်သည့်အတွက်ကြောင့် ပေါ်ပေါက်လာခဲ့သနည်း။ ဤကား ကျင့်ဝတ် ဗေဒက ဖြေဆိုရမည့် ပုစ္ဆာဖြစ်၏။

လူ့လောကကြီး၏ အထွေထွေဘဝနှင့် ဆက်စပ် တွေးတောသောအခါ၌ လူသည် လူလောကကြီး၏ ဘဝကို ပြဋ္ဌာန်းလျက်ရှိသော နိယာမတရားများ၏ လက်အောက်ခံ မျှသာဖြစ်သည်ဟု ထင်ရ၏။ သို့ရာတွင် လူ့လောကကြီး ၏ ဘဝနှင့် ကင်းကွာ၍ တစ်ဦးချင်းကြည့်လိုက်သောအခါ လူသည် လွတ်လပ်သည်ဟု ထင်ရလေသည်။ သို့ဖြစ်လျှင် လူ့လောကကြီးနှင့် လူမျိုးများ၏ အတိတ် အဖြစ်အပျက် များ၊ အတိတ်ရာဇဝင်များကို မည်သို့ သဘောထားရမည် နည်း။ လူ၏ လွတ်လပ်စွာ ဆောင်ရွက်ချက်ကြောင့် ပေါ်ပေါက်လာသလော။

သို့တည်းမဟုတ် နိယာမတရား ၏ စေခိုင်းချက်ကြောင့် ပေါ်ပေါက်လာသလော။ ဤကား ရာဇဝင်သိပ္ပံပညာက ဖြေရမည့်ပုစ္ဆာ ဖြစ်လေသည်။

ယနေ့ ကျွန်ုပ်တို့ခေတ်၌ လူသည် ကိုယ့်ကိုယ်ကို များစွာ အထင်ကြီး၏။ အသိပညာကို အထူးတလည် လေ့လာလိုက်စားကြ၏။ (ဤသို့ လေ့လာလိုက်စားခြင်းမှာ မသိနားမလည်ခြင်းတည်း ဟူသော အင်ဂျင်စက်ကြီးက များစွာ အလုပ်လုပ်ခြင်းကြောင့်လည်းကောင်း၊ ပုံနှိပ်စာ အုပ် ဖြစ်ပေါ်လာခြင်းကြောင့်လည်းကောင်း ဖြစ်ပါသည်။) ထို့ကြောင့် လူ၏ စိတ်ဆန္ဒသည် လွတ်လပ်သလော ဟူ သော ပြဿနာကိုလည်း ယခင်ကထက် အထူးတလည် စူးစမ်း ရှာဖွေလာခဲ့ကြ၏။ ကျွန်ုပ်တို့ခေတ်၌ ခေတ်မီ သည်ဆိုသည့် ပုဂ္ဂိုလ်များ (၎င်းတို့မှာ တတ်ယောင်ကား များ ဖြစ်ပါသည်) သည် သဘာဝသိပ္ပံပညာရှင်များ၏ စာပေကျမ်းဂန်များကို အများအပြား ဖတ်ရှုလေ့လာကြ ၏။ (သဘာဝသိပ္ပံ ပညာရှင်များမှာ လူ၏ စိတ်လွတ်လပ် ခြင်း ရှိ မရှိဆိုသည့် ပြဿနာကို အဖြေရှာကြရာ၌ ပြ ဿနာကို ဘက်ပေါင်းစုံမှကြည့်၍ အဖြေမရှာဘဲ တစ်ဖက် တည်း ကြည့်၍သာ အဖြေရှာကြပါသည်။) သဘာဝသိပ္ပံပညာရှင်များ၏ လောက၌ ဝိညာဉ် ၍လည်း မရှိ။ လွတ်လပ်ခြင်း ဟူ၍လည်း မရှိ။ လူ၏ ဘဝသည် ကြွက်သားအစုအဝေးများ၏ လှုပ်ရှားမှု ဖြစ် သည်။ ထိုကြွက်သား လှုပ်ရှားမှုများကိုလည်း အာရုံကြော များ၏ လှုပ်ရှားမှုက ပြုပြင်ဖန်တီးပေးသည်ဟု ပြောကြ၊ ရေးကြ၊ ပုံနှိပ်ကြ၏။ ကျွန်ုပ်တို့သည် မရေမတွက်နိုင် သော အသေင်္ချေကာလက လူဝံအဖြစ်မှ လူအဖြစ်သို့ ပြောင်းလဲလာခဲ့ခြင်းဖြစ်သောကြောင့် ကျွန်ုပ်တို့တွင် ဝိညာဉ် ဟူ၍လည်း မရှိ။ လွတ်လပ်သော စိတ်ဆန္ဒဟူ၍လည်း မရှိဟု ပြောကြ၊ ရေးကြ၊ ပုံနှိပ်ကြ၏။ ဤ အဆိုအမိန့် မှန်ကြောင်းကိုလည်း ခန္ဓာဗေဒပညာ၊ ပါဏဗေဒ ပညာ  ရပ်တို့ဖြင့် စိတ်အားထက်သန်စွာ နှိုင်းယှဉ် သက်သေပြ ကြ၏။ သို့ရာတွင် ၎င်းတို့က ဤသို့

ခန္ဓာဗေဒ၊ ပါဏဗေဒ ပညာရပ်တို့ဖြင့် နိုင်းယှဉ်သက်သေထုတ်ပြရန် ကြိုးစား လျက်ရှိသော ထိုလိုအပ်ခြင်းနိယာမကို ဘာသာတရား အားလုံး၊ တွေးခေါ်မှု ပညာရှင်များအားလုံးက လွန်ခဲ့သော နှစ်ထောင်ပေါင်းများစွာကတည်းက အသိအမှတ်ပြုခဲ့ရုံမက ငြင်းဆိုခြင်း မရှိခဲ့ကြောင်းကိုမူကား သတိထားမိကြဟန် မ တူချေ။ လူ၏ စိတ်သည် လွတ်လပ်သလော၊ အမှီခို ကင်းသလောဆိုသည့် ပြဿနာကို ဖြေဆိုရာ၌ သဘာဝ သိပ္ပံပညာများသည် ပြဿနာ၏ ဘက်တစ်ဖက် ကိုသာ ပိုမိုပီသ ရှင်းလင်းပြတ်သားအောင် လုပ်နိုင်ခဲ့၍ အခြား ဘက်တစ်ဖက်ကိုမူ ရှင်းလင်းအောင် မတတ်နိုင်ခဲ့ချေ။ ဤသည်ကို သဘာဝသိပ္ပံပညာရှင်များ မမြင်ကြ ချေ။ ဆင်ခြင်တုံတရားများ စိတ်ဆန္ဒနှစ်ခုစလုံးသည် ဦးနှောက် မှ စိမ့်ယိုထွက်လာ သောအရာ၊ ဦးနှောက်၏ ထုတ်ကုန်ပစ္စည်းဖြစ်သည်ဟူသော အကြောင်းပြချက်နှင့် လူသည် ယေဘုယျနိယာမတရားအရ မရေတွက်နိုင်သော အသင်္ချေ ကာလက အဆင့်နိမ့်သော တိရစ္ဆာန်များမှ ဖွံ့ဖြိုးတိုးတက် လာခြင်း ဖြစ်သည်ဟူသော အကြောင်းပြချက်သည် အမှန် တရားကို အမြင်သစ်၊ အတွေးသစ်တစ်မျိုးဖြင့် တင်ပြ ခြင်းသာ ဖြစ်လေသည်။ စင်စစ်၌ကား ထိုအမှန်တရားကို ဘာသာတရား များနှင့် အဘိဓမ္မာ သဘောတရားများအား လုံးကလည်း ရှေးနှစ်ထောင်ပေါင်း များစွာ ကတည်းကပင် တွေ့ရှိခဲ့ကြပြီ ဖြစ်ပေသည်။ ဆင်ခြင်တုံတရားဘက်က ကြည့်လျှင် လူသည် လိုအပ်ခြင်းနိယာမတရား၏ လက် အောက်ခံမျှသာ ဖြစ်သည် ဟု ဘာသာတရား အားလုံးတို့ က ဆိုခဲ့ကြသည် မဟုတ်ပါလော။ သို့ဖြစ်ရကား သဘာဝ သိပ္ပံပညာသည် ထိုအမှန်တရားကို ခေတ်သစ်တွင် အမြင် သစ်၊ အတွေး သစ်၊ ဥဒါဟရဏ်သစ်၊ နည်းသစ်ဖြင့် တင် ပြခြင်းသာ ဖြစ်လေသည်။ သို့ရာတွင် သိစိတ်ကို အခြေခံ ၍ကြည့်သော် လူသည် လွတ်လပ်လျက် ရှိပြန်သည် ဟူ သော ပြဿနာ၏ အခြားဘက်တစ်ဖက်ကို ဖြေရှင်းရေး ၌မူ သဘာဝသိပ္ပံပညာသည်

ဘာသာတရားများနှင့် အဘိ ဓမ္မာ သဘောတရားများထက် ဆံချည်တစ်မျှင်၊ နှမ်းလုံး တစ်ထောက်မျှပင် ရှေ့သို့ တိုးတက်ခြင်း မရှိချေ။

လူသည် မရေတွက်နိုင်သော ကာလအသင်္ချေက လူ့ဝံဘဝမှ တိုးတက်ဖြစ်ပေါ်လာခဲ့ခြင်းဖြစ်သည်ဆိုသော စကားသည် လူသည် တစ်စုံတစ်ခုသောကာလက မြေစိုင်ခဲ မှ အစပြုခဲ့သည်ဆိုသော စကားကဲ့သို့ပင် နားလည်ရခက် သောစကားဖြစ်လေသည်။ (နားလည်ရ ခက်ခြင်းမှာ အကြောင်းနှစ်ကြောင်းကြောင့် ဖြစ်ပါသည်။ ပထမအချက် မှာ အချိန်ကာလကို အတိအကျ မသိရသောကြောင့် ဖြစ်ပါသည်။ သို့ဖြစ်ရကား လွတ်လပ်ခြင်းကိုသိသော လူ ၏ "သိစိတ်" နှင့် ၎င်း၏ ဆန့်ကျင်ဘက်ဖြစ်သော လူက လိုက်နာနေရသော လိုအပ်ခြင်း နိယာမတရားတို့ကို မည် သို့မည်ပုံ သဟဇာတဖြစ်စေ၍ မည်သို့မည်ပုံ ညီညွတ်အောင် ပြုမည်နည်းဆိုသော ပြဿနာကို ခန္ဓာဗေဒ ပညာအားဖြင့် လည်းကောင်း၊ ပါဏဗေဒ ပညာရပ်အားဖြင့်လည်းကောင်း၊ ရှာဖွေရှင်းလင်းနိုင်မည် မဟုတ်ချေ။ ထိုပညာရပ်များသည် ကြွက်သားစုဆိုင်ရာ အာရုံကြော လှုပ်ရှားမှုများဖြင့်သာ ဖွဲ့စည်းထားသော ဖား၊ ယုန်၊ လူ့ဝံ စသည့် သတ္တဝါများ အကြောင်းကို ပြည့်စုံစွာ လေ့လာနိုင်မည် ဖြစ်သော်လည်း ကြွက်သားစုဆိုင်ရာ အာရုံကြောလှုပ်ရှားမှုများနှင့်တကွ "သိစိတ်"တို့ဖြင့် ပါဝင်ဖွဲ့စည်းထားသော လူသူသတ္တဝါ အကြောင်းကိုမူကား ပြည့်စုံစွာ လေ့လာနိုင်မည် မဟုတ်ချေ။

သဘာဝသိပ္ပံပညာရှင်များနှင့် ၎င်းတို့၏ အန္တေဝါသိကများသည် အဆိုပါ ပြဿနာကို ဖြေရှင်းနိုင်သည် ဟု ထင်ကြလျှင် ထိုသို့ထင်ခြင်းမှာ အိမ်တစ်ဆောင်ကို ပန်းရန်ကိုင်လျက်ရှိသော ပန်းရန်သမားတစ်စုသည် ပန်းရန် ဆရာ၏ မျက်ကွယ်၌ ပြီးချင်ဇောဖြင့် ပြတင်းပေါက်များ၊ တံခါးများ၊ ငြမ်းစင်မဖျက်ရသေးသော နံရံများအားလုံး ကို သရွတ်ကိုင်ပြီးနောက် (အပေါက်နေရာ ချန်ခြင်း၊ မချန်

ခြင်းသည် ပဓာနမဟုတ်၊ သရွတ်ကိုင်၍ ပြီးခြင်းသာ ပဓာနဟု ယူဆသော ပန်းရန်သမားတို့၏ အမြင်အရ) မိမိတို့၏ အလုပ်ကား ပြီးလေပြီ။ မိမိတို့၏ လက်ရာကား ချောမွေ့ပြေပြစ်လျက်ရှိပြီဟု ထင်တတ်သော ပန်းရန်သမား တို့၏ အထင်မျိုးသာ ဖြစ်လိမ့်မည် ဖြစ်ပါကြောင်း။

# အခန်း ၉

လူ၏စိတ်ဆန္ဒသည် လွတ်လပ်သလော၊ သို့တည်းမဟုတ် ၎င်းသည် ရှောင်လွှဲမရသော လိုအပ်ခြင်း နိယာမတရားများ ကို လိုက်နာရသလောဟူသော ပြဿနာကို ဖြေရှင်းရာ၌ ရာဇဝင်သိပ္ပံပညာတွင် အခြားသော ပညာရပ်များထက် အခွင့်သာသည့် အချက်တစ်ချက် ရှိပေသည်။ ၎င်းကား အခြားမဟုတ်။ ရာဇဝင်၏ အလုပ်သည် လွတ်လပ်သော စိတ်ဆန္ဒ၏ အဓိပ္ပာယ်အနှစ်သာရကို လေ့လာရခြင်း မဟုတ်ဘဲ ထိုလွတ်လပ်သော စိတ်ဆန္ဒ၏ ကိုယ်စားပြုချက်၊ ထင်ဟပ်ချက်တို့ကို တစ်စုံတစ်ခုသော အခြေအနေများနှင့် ယှဉ်၍ လေ့လာရခြင်းကြောင့် ဖြစ်၏။

လက်တွေ့ သိပ္ပံပညာရပ်များသည် လက်တွေ့ မဟုတ်သော သိပ္ပံပညာရပ်များထက် အခွင့်သာသကဲ့သို့ ရာဇဝင်သိပ္ပံပညာသည်လည်း ဤပြဿနာကို လေ့လာရာ တွင် (လက်တွေ့ စူးစမ်းနိုင်ခြင်းကြောင့်) အခြားသော သိပ္ပံပညာရပ်များထက် အခွင့်သာလျက် ရှိလေသည်။

ရာဇဝင်က လေ့လာရမည့်အကြောင်းအရာသည် . လူ၏ စိတ်ဆန္ဒ အကြောင်း မဟုတ်ဘဲ ကျွန်ုပ်တို့က လူ၏ စိတ်ဆန္ဒနှင့် စပ်လျဉ်း၍ မည်သို့ တင်ပြသနည်း။ မည်သို့ ထင်မြင်သနည်း ဟူသော အကြောင်းအရာသာ ဖြစ်လေသည်။ ,

ဘာသာတရား၊ လူ့ကျင့်ဝတ်၊ အဘိဓမ္မာ စသည် ပညာရပ်များအဖို့ တစ်ခုနှင့်တစ်ခု ဆန့်ကျင်လျက်ရှိသော လူ၏ လွတ်လပ်သော စိတ်ဆန္ဒနှင့် ရှောင်လွှဲမရသော

လိုအပ်ခြင်း နိယာမတရားတို့ မည်သို့မည်ပုံ ဆန့်ကျင်နေ သနည်းဟူသော ဖြေရှင်း ရနိုင်ဖွယ် မရှိသည့် ပြဿနာကြီး ပေါ်ပေါက်လျက်ရှိသော်လည်း ရာဇဝင်သိပ္ပံပညာ ရပ်အဖို့၌ ကား ထိုပြဿနာ မရှိချေ။ ရာဇဝင်သိပ္ပံ၏အလုပ်မှာ လူ၏ လွတ်လပ် သော စိတ်ဆန္ဒနှင့် ရှောင်လွှဲမရသော လိုအပ်ခြင်း နိယာမတရားဟူသော ထို ဆန့်ကျင်ဘက် တရားနှစ်ခု ညီညွတ်ပေါင်းစပ် ဖွဲ့စည်းလျက်ရှိသည့် လူ့ ဘဝ၏ ထင်ဟပ်ချက်ကို လေ့လာရန်သာ ဖြစ်ပေသည်။

လက်တွေ့၌ ရာဇဝင်အဖြစ်အပျက်များ၊ လူ၏ လုပ်ဆောင်ချက်များသည် အလိုအလျောက် ပေါ်ပေါက်လာ သည်ဟု ထင်ရ၏။ သို့မဟုတ်လျှင်လည်း အကြောင်း တရားများကြောင့် ပေါ်ပေါက်လာသည် ထင်ရ၏။ သို့ရာ တွင် စင်စစ်၌ကား ၎င်းတို့သည် တစ်စိတ်တစ်ဒေသအား ဖြင့် လွတ်လပ်စွာ ပေါ်ပေါက် ခြင်းဖြစ်၍ တစ်စိတ်တစ်ဒေ အားဖြင့် ရှောင်လွှဲမရသောကြောင့် ပေါ်ပေါက်လာ ခြင်းသာ ဖြစ်လေသည်။

လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းစသည့် ဆန့်ကျင် ဘက် တရားနှစ်ခုသည် မည်သို့မည်ပုံ လာရောက် ပေါင်းစည်းညီညွတ်နေကြသနည်း။ လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းတို့၏ အနှစ်သာရသည် မည်သည့်အရာနည်း။ ဤပြဿနာကို ဖြေရှင်း နိုင်ရန်အတွက် ရာဇဝင်ဆိုင်ရာ `အဘိဓမ္မာသည် အခြားသိပ္ပံပညာရပ်များနှင့်မ တူ တစ်မူ ထူးခြားသော လမ်းကို ရွေးချယ်ရပေလိမ့်မည်။ ရာဇဝင် သည် လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းတို့၏ အဓိပ္ပာယ် ကို ပထမဖွင့်ဆို၍ ထိုနောက်မှ လူ့လောက အဖြစ်အပျက် များကို ထင်ဟပ်ကြည့်လေ့ရှိသော အခြားသော သိပ္ပံပညာ ရပ်များ၏ နည်းလမ်းဟောင်းကို ရှောင်ကြဉ်ရပေလိမ့် မည်။ လူ့လောက၏ လက်တွေ့ အဖြစ်အပျက်များမှ ကောက်ချက်ဆွဲထုတ်ပြီးနောက်မှ လွတ်လပ်ခြင်းနှင့် လိုအပ် ခြင်းတို့၏ အဓိပ္ပာယ်ကို ဖွင့်ဆိုခြင်းပြုရလိမ့်မည်ဖြစ်ပေ သည်။

ကျွန်ုပ်တို့သည် လူပုဂ္ဂိုလ်တစ်ဦး (သို့မဟုတ် လူများစွာ) တို့၏ ဆောင်ရွက်ချက်တစ်ရပ်ကို စဉ်းစား သည့် အခါ၌ ထိုဆောင်ရွက်ချက်သည် တစ်စိတ်တစ်ဒေအားဖြင့် လူ၏ လွတ်လပ်သော စိတ်ဆန္ဒကြောင့် ဖြစ်ပေါ် လာခြင်းဖြစ်၍ တစ်စိတ်တစ်ဒေသအားဖြင့် ရှောင်လွှဲမရ သော လိုအပ်ခြင်း နိယာမတရား၏ တွန်းဆော်မှုကြောင့် ပေါ်ပေါက်လာခြင်းဖြစ်သည်ဟု ယူဆကြ၏။

မည်သည့်အတွက် စစ်ပွဲများ ဖြစ်ပွားသနည်း သို့ မဟုတ် ရောမနိုင်ငံကြီးကို မည်သည့်အတွက်ကြောင့် လူ ရိုင်းများ ဝင်ရောက်ဖျက်ဆီးသနည်း၊ သို့မဟုတ် တတိယ မြောက် နပိုလီယန်သည် မည်သည့်အတွက်ကြောင့် အမိန့်ပြန်တမ်းများကို ထုတ်ပြန်သနည်း၊ သို့မဟုတ် လွန်ခဲ့သည့် တစ်နာရီခန့်က မောင်ဖြူဆိုသော ပုဂ္ဂိုလ် တစ်ယောက်သည် အရပ်လေးမျက်နှာရှိသည့်အနက် မည် သည့်အတွက်ကြောင့် အရှေ့ဘက်ကို ရွေးချယ်၍ လမ်း လျှောက်ထွက်ရသနည်း။ ဤအကြောင်းများကို ပြောဆို ရာတွင် ကျွန်ုပ်တို့၏ စကားများထဲ၌ ဆန့်ကျင်ဘက်များ ပါဝင်လျက်ရှိခြင်းကို ကျွန်ုပ်တို့ မသိကြချေ။ သတိမထားမိ ကြချေ။ ဤသည်မှာ လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းသည် ထိုလုပ်ဆောင်ချက်များ (အခြားမည်သည့် အလုပ်မျိုးကို မဆို) ထိုတစ်စုံတစ်ခုသော အတိုင်းအတာဖြင့် လွှမ်းမိုး ချုပ်ကိုင်ထားသည်ဟု ကျွန်ုပ်တို့ နားလည်ပြီးသား ဖြစ်သော ကြောင့် ဖြစ်၏။ ဥပမာ မောင်ဖြူသည် မည်သည့်အတွက် ကြောင့် အရှေ့ဘက်သို့ ရွေးချယ်၍ လမ်းလျှောက်ထွက် သနည်းဟူသော ပုစ္ဆာ၌ အရှေ့ဘက်ကို သွားလိုသောဆန္ဒ အလိုလို ဖြစ်ပေါ်လာသောကြောင့် တစ်ကြောင်း (ဤကား စိတ်ဆန္ဒ၏ လွတ်လပ်ခြင်း)၊ အရှေ့ဘက် လမ်းလျှောက်၍ ကောင်းသောနေရာ ဖြစ်ခြင်းကြောင့် တစ်ကြောင်း (ဤကား ရှောင်လွှဲမရသော လိုအပ်ခြင်း) ဖြစ်နိုင်လေသည်။

လူတစ်ယောက်၏ စိတ်ဆန္ဒသည် မည်သည့် အတိုင်းအတာ၊ မည်သည့် ပမာဏအထိ လွတ်လပ်သနည်း `ဟူသော ကိစ္စ၌ လေ့လာသူ ကျွန်ုပ်တို့၏ ရှုထောင့်ကို လိုက်၍ လွတ်လပ်ခြင်း၏ အတိုင်းအတာ ပမာဏသည် လည်း ကွဲပြား ခြားနား၏။ လူ၏ လုပ်ဆောင်မှုတိုင်းသည် လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းတို့နှစ်ခု ပေါင်းစပ်၍ ဖြစ်ပေါ် လာခြင်းသာဖြစ်လေသည်။ လူ၏ လုပ်ဆောင်မှုတိုင်း၌ တစ်စုံတစ်ခုသော လွတ်လပ်မှုပမာဏနှင့် တစ်စုံတစ်ခု သော လိုအပ်မှုပမာဏကို တွေ့ရတတ်သည်သာ ဖြစ်ပေ သည်။ ထိုလုပ်ဆောင်မှု၌ လွတ်လပ်မှု၏ပမာဏများ လျှင် လိုအပ်မှု၏ ပမာဏ နည်း၏။ လိုအပ်မှု ပမာဏများလျှင် လွတ်လပ်မှု ပဏ မာ နည်းလေသည်။

လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းတို့၏ ပမာဏသည် လုပ်ဆောင်မှုကို လေ့လာသူ၏ ရှုထောင့်၊ လေ့လာသူ၏ ရပ်တည်ချက်ကို လိုက်၍ ကွဲပြားခြားနား ကြ၏။ သို့ရာ တွင် ထိုနှစ်ခု၏ ဆက်သွယ်မှုမှာ ပြောင်းပြန် အချိုးအစား အတိုင်း သာ ဖြစ်လေသည်။ တစ်ခုက နည်းလျှင် တစ်ခုက များ၍၊ တစ်ခုက များလျှင် တစ် ခုက နည်းသည်သာ ဖြစ်လေသည်။

ရေနစ်သူတစ်ယောက်သည် အခြားသူတစ်ဦးက လှမ်းဆွဲလိုက်သည်၌ ထိုလူ ကိုပါ နစ်စေ၏။ ကလေးငယ် ကို နို့ချို့တိုက်ကျွေးရခြင်းကြောင့် အားပြတ်ငတ်မွတ် လျက် ရှိသော မိခင်တစ်ယောက်သည် အစာကို ခိုး၍ စား၏။ စည်းကမ်းကို လိုက်နာရန် လေ့ကျင့်သားရနေသူ တပ်သား တစ်ယောက်သည် တာဝန်ကျနေ စဉ်၌ အထက်အမိန့်အရ အကာအကွယ် ကင်းမဲ့သူတစ်ယောက်ကို သတ်ပစ်၏။ ထိုသူများအားလုံး၏ အခြေအနေကို သိပြီးသူ၏ အမြင်၌  ကား ၎င်းတို့၏ အပြုအမူများအားလုံးသည် ရှောင်လွှဲ မရသည့် လိုအပ်ခြင်း နိယာမတရား၏ စေခိုင်းချက် ကြောင့် ဖြစ်ရသည်ဟု မြင်၏။ စိတ်အလိုဆန္ဒ မပါဘဲ ဖြစ်ရသည်ဟု

မြင်၏။ ထို့ကြောင့် ၎င်း၏ လွတ်လပ်မှု ပမာဏ မရှိ၊ အပြစ်ဆိုဖွယ်မရှိဟု နားလည်၏။ သို့ရာတွင် ထိုသူသည် ရေနစ်နေခြင်း၊ မိခင်သည် အားပြတ်၍ ငတ်မွတ်လျက် ရှိခြင်း၊ တပ်သားသည် အထက်မှ အမိန့်ကို နာခံရခြင်း စသည့်အချက်များကို မသိသူတို့၏ အမြင်၌ ကား ၎င်းတို့၏ အပြုအမူများ အားလုံးသည် စိတ်ပါ၍ လုပ်သယောင် ထင်ရ၏။ ၎င်းတို့ လုပ်လို၍ လုပ်သည်ဟု ထင်ရ၏။ ထို့ကြောင့် အပြစ်ရှိသည်ဟု နားလည်၏။ အလားတူပင် လူတစ်ယောက်သည် လွန်ခဲ့သည့်အနှစ်နှစ် ဆယ်လောက်က လူသတ်မှုတစ်ခု ကျူးလွန်ခဲ့ဖူး၏။ ထို့နောက် လူ့အဖွဲ့အစည်း၌ အေးချမ်းသာယာစွာ အပြစ် ကင်းမဲ့စွာ နေထိုင်ခဲ့၏။ လူသတ်မှုတစ်ခု ကျူးလွန်ပြီး နောက်တစ်နေ့တွင် ထိုလူသတ်သမားကို တွေ့မြင်ရသော လူတစ်ယောက်၏ အမြင်၌ကား ထိုလူသည် တကယ့် ရာဇဝတ်ကောင်ကြီး မြင်၏။ အပြစ်ကို ကျူးလွန်သူ ဖြစ်၏။ သို့ရာတွင် ယခုအနှစ်နှစ်ဆယ် ကြာပြီးသည့်အချိန် တွင် ထိုလူသတ်သမားကို တွေ့ရသူတစ်ဦး၏အမြင်၌မူ ထိုသူ၌ များစွာ အပြစ်ဆိုဖွယ် မရှိ။ ၎င်းသည် ရှောင်လွှဲ မရသော နိယာမတရား၏စေခိုင်းချက်အရ မလွှဲမရှောင် သာ ကျူးလွန်ခဲ့မိသူတစ်ဦး ဖြစ်သည်ဟု ယူဆကာ ခွင့်လွှတ်နိုင်လိမ့်မည် ဖြစ်လေသည်။ အလားတူပင် အရက် သမားတစ်ယောက်၏ အပြုအမူ၊ အရူးတစ်ယောက်၏ အပြုအမူများသည် ၎င်းတို့၏ စိတ်အခြေအနေကို မသိသူများ၏ အမြင်၌ကား မရှောင်မလွှဲသာ၍ ဖြစ်ပေါ်ခြင်း မဟုတ်။ ၎င်းတို့ စိတ်ဆန္ဒ၏ တိုက်တွန်းချက်ကြောင့် ဖြစ်ပေါ်သည်ဟု ထင်စရာ ဖြစ်၏။ ခွင့်လွှတ်စရာ မရှိဟု ယူဆဖွယ်ဖြစ်၏။ ၎င်းတို့၏ စိတ်အခြေအနေကို သိသူ၏ အမြင်၌ကား စိတ်ဆန္ဒ တိုက်တွန်းချက်ကြောင့် ဖြစ်ပေါ်ခြင်း မဟုတ် မရှောင်မလွှဲသာ၍ ဖြစ်ပေါ်ခြင်း ဖြစ်သည်ဟု နားလည်နိုင်လေသည်။ ခွင့်လွှတ်နိုင်လေသည်။ ဤဥဒါဟ ရဏ်များ အားလုံး၌ လွတ်လပ်မှုနှင့် ရှောင်လွှဲမရသော လိုအပ်မှုပမာဏသည် ရှုမြင်သူ၏ ရှုထောင့်၊ ၎င်း၏ ရပ် တည်ချက်ကို လိုက်၍ ကွဲပြားခြားနား၏။ ရှောင်လွှဲမရသော

လိုအပ်မှု၏ ပမာဏက ကြီးလျှင် လွတ်လပ်မှု၏ ပမာဏက . နည်း၏။ ရှောင်လွှဲမရသော လိုအပ်မှု၏ပမာဏက နည်း လျှင် လွတ်လပ်မှု၏ပမာဏကကြီး၏။

လိုအပ်ခြင်းနှင့် လွတ်လပ်ခြင်းတို့သည် တစ်ခုနှင့် တစ်ခု ဤသို့ ဆက်သွယ်လျက်ရှိသည်ဟု ဘာသာတရား၊ လူ၏ အသိဉာဏ်တရား၊ တရားဥပဒေပညာဆိုင်ရာ၊ သိပ္ပံပညာနှင့် ရာဇဝင်ဆိုင်ရာ သိပ္ပံပညာတို့၏ တညီ တညွတ်တည်း ယူဆကြပေသည်။

သို့ဖြစ်လျှင် လွတ်လပ်ခြင်းနှင့် လိုအပ်ခြင်းတို့ မည်သူက ပမာဏကြီး၍ မည်သူက ပမာဏနည်းသည်ဟု မည်သို့ဆုံးဖြတ်မည်နည်း။ (ဝ) လူတစ်ယောက်၏ ဆောင်ရွက်ချက်တစ်ခုကို ကြည့်ရာ၌ ထိုဆောင်ရွက်ချက် သည် စိတ်ဆန္ဒ၏ တိုက်တွန်းချက်ကြောင့် ဖြစ်သလော၊ သို့တည်းမဟုတ် မလွှဲမရှောင်သာသော လိုအပ်ချက်ကြောင့် ဖြစ်သလောဆိုသည်ဟု မည်သို့ ဆုံးဖြတ်မည်နည်း။

ယင်းသို့ ဆုံးဖြတ်နိုင်ရန် အချက်သုံးချက်ကို အခြေခံ၍ စဉ်းစားရပေလိမ့်မည်။

(၁) ပြုလုပ်သူနှင့် ပြင်ပကမ္ဘာလောကကြီး၏ • ဆက်သွယ်မှု (ပတ်ဝန်းကျင်၊ ဒေသ)။ (၂) ပြုလုပ်သူနှင့် အချိန်ကာလတို့၏ ဆက်သွယ် မှု (အချိန်၊ ကာလ)။ (၃) ပြုလုပ်သူနှင့် ပြုလုပ်မှုကို ဖြစ်ပေါ်စေသော အကြောင်းတရားများနှင့် ဆက်သွယ်မှု (အကြောင်းတရား၊ ပယောဂ)။ - (၁) ပထမအချက်အားဖြင့် လူနှင့် ပြင်ပကမ္ဘာလောကကြီး၏ ဆက်သွယ်မှုကို ကျွန်ုပ်တို့ ကောင်းစွာ သိမြင်ရမည်ဖြစ်၏။ ထိုလူ၏ အခြေအနေ၊ ၎င်းနှင့် ဆက်စပ်ဖြစ်ပေါ်လျက်ရှိသော ပတ်ဝန်းကျင် အခြေအနေကို ကောင်းစွာ နားလည်ရမည် ဖြစ်၏။ သို့မှသာ (ဥပမာ အားဖြင့်) ရေနစ်သူတစ်ဦးသည် ကုန်းပေါ်တွင် ရပ်နေသူ တစ်ဦးလောက် လွတ်လပ်ခြင်း မရှိကြောင်း မလွှဲသာသော လိုအပ်ခြင်း နိယာမတရားများကို လိုက်နာနေရကြောင်း

ကောင်းစွာ နားလည်မည် ဖြစ်၏။ သို့မှသာ လူဦးရေ ထူထပ်သော ရပ်ကွက်တွင် နေထိုင်၍ အများနှင့် ဆက်ဆံရ သူတစ်ဦး၊ သို့မဟုတ် အိမ်ထောင်ရေးတာဝန်၊ အစိုးရတာ ဝန်၊ အလုပ်တာဝန်ကို ထမ်းဆောင်ရသူတစ်ဦးသည် တစ်ယောက်တည်း ဧကစာ ကျင့်နေသူတစ်ဦးလောက် လွတ်လပ်ခြင်း မရှိကြောင်း၊ လိုအပ်ခြင်း၏စေခိုင်းရာကို လိုက်နာရကြောင်းကို ကျွန်ုပ်တို့ သဘောပေါက်ပေလိမ့် မည်။

- အကြင်လူတစ်ဦးတစ်ယောက်သည် မိမိ၏ ပတ်ဝန်းကျင်နှင့် ကင်းကွာ၍ တစ်ယောက်တည်း နေထိုင် ခြင်းပြုအံ့။ ထိုလူ၏ လုပ်ဆောင်ချက်များသည် လွတ်လပ် သည်ဟု ထင်စရာရှိ၏။ သို့ရာတွင် ထိုလူနှင့် ၎င်းပတ် ဝန်းကျင်၏ ဆက်သွယ်မှုကို ဂရုတစိုက်လေ့လာမည်ဆိုပါ က ထိုလူနှင့် ၎င်း၏ပတ်ဝန်းကျင်တွင် ရှိရှိသမျှ အရာဝတ္ထု ( တစ်ခုခုတို့၏ ဆက်စပ်မှုကို လေ့လာမည်ဆိုပါက (ဥပမာ ထိုလူ စကားပြောနေသော အခြားလူတစ်ယောက်၊ ထိုလူ ဖတ်လျက်ရှိသော စာအုပ်တစ်အုပ်၊ ထိုလူလုပ်လျက်ရှိ သော အလုပ်တစ်ခု၊ ထို့မှမက ထိုလူ၏ပတ်ဝန်းကျင်တွင် ရှိသော အလုပ်တစ်ခု၊ ထို့မှမက ထိုလူ၏ ပတ်ဝန်းကျင်တွင် ရှိသော လေထုနှင့် ထိုလူ၏အနီးတွင် ကျရောက်လျက်ရှိ သော အလင်းရောင် စသည့်အရာများ) ထိုအရာဝတ္ထုများ၊ ထိုအခြေအနေများသည် ထိုလူအပေါ်တွင် ဩဇာလွှမ်းလျက် ရှိကာ ထိုလူ၏ လုပ်ဆောင်ချက်များကို တစ်နည်းမဟုတ် တစ်နည်းဖြင့် ချုပ်ကိုင်လျက်ရှိခြင်းကို တွေ့ရပေသည်။ ထိုသို့ ဩဇာလွှမ်းလျက်ရှိသော ပတ်ဝန်းကျင်ကို ကျွန်ုပ်တို့ ပိုမိုသိမြင်လာသည်နှင့်အမျှ ထိုလူ၌ လွတ်လပ်မှုသည် နည်းသည်ထက် နည်းလာကာ ထိုလူကို လွှမ်းမိုးလျက်ရှိ သော လိုအပ်မှုသည် (မရှောင်မလွှဲသာသော အကြောင်း တရားများ) များသည်ထက် များကြောင်းကို ကျွန်ုပ်တို့ တွေ့လာရပေသည်။

(၂) ဒုတိယအချက်မှာ ထိုလူနှင့် ကမ္ဘာလောက ကြီးကို အချိန်ကာလ အားဖြင့် ဆက်သွယ်နေကြပုံ ဖြစ်၏။ ထိုလူ၏ လုပ်ဆောင်ချက်သည် မည်သည့် အချိန်၌ ပေါ် ပေါက်သနည်းဆိုသည့်အချက်ကို ကောင်းစွာ နားလည်ရ မည် ဖြစ်၏။ သို့မှသာ (ဥပမာအားဖြင့်) လူ့အနွယ်ကြီး ကို ပေါ်ပေါက်စေခဲ့သော ပထမ ဦးဆုံးသော ကမ္ဘာဦးလူသား သည် အိမ်ထောင်ခြင်းအမှုကို ပြုရာ၌ ယနေ့လူသား လောက် လွတ်လပ်ခြင်းမရှိဘဲ မလွှဲမရှောင်သာသော လိုအပ်ခြင်း အကြောင်းတရားများကြောင့် ပြုလုပ်ခဲ့ရခြင်းဖြစ်ကြောင်း ကို ကျွန်ုပ်တို့ နားလည် နိုင်လိမ့်မည် ဖြစ်ပေသည်။ လူ  လုပ်သူနှင့် အချိန်ကာလ၏ ဆက်သွယ်မှုကို နားလည်ခြင်း ကြောင့်ပင် ကျွန်ုပ်တို့နှင့် အချိန်ကာလအားဖြင့် ဆက်သွယ် လျက်ရှိ သော လွန်ခဲ့သော ရာစုနှစ်ပေါင်းများစွာက နေထိုင် ခဲ့သူတို့၏ ပြုမူဆောင်ရွက် ချက်များကို မလွှဲမရှောင်သာ သော လိုအပ်ခြင်းအကြောင်းတရားများကြောင့် ဖြစ် ပေါ်ခဲ့ သည်ဟု မြင်ကြပြီး ကျွန်ုပ်တို့ခေတ်ရှိ လူများ၏ ဆောင် ရွက်ချက်များကို မူကား ၎င်း၏စိတ်ဆန္ဒအလျောက် ဖြစ်ပေါ် ခြင်း ဖြစ်သည်ဟု ကျွန်ုပ်တို့ ထင်နေ ကြခြင်းဖြစ်လေသည်။

ကျွန်ုပ်တို့နှင့် ထိုလူ၏ လုပ်ဆောင်ချက်သည် အချိန်ကာလအားဖြင့် ကွာလှမ်းသည်နှင့်အမျှ ထိုလုပ်ဆောင် ချက်သည် လွတ်လပ်စွာ ပေါ်ပေါက်လာ ခြင်းမဟုတ်။ မရှောင်သာသောအကြောင်းတရားများကြောင့် ပေါ်ပေါက် လာသည် ဟု ထင်ကြ၏။ ကျွန်ုပ်တို့၏ ထိုလူ၏ လုပ်ဆောင် ချက်သည် အချိန်ကာလ အားဖြင့် နီးကပ်သည်နှင့်အမျှ ထိုလုပ်ဆောင်ချက်သည်' မရှောင်သာသောကြောင့် ပေါ် ပေါက်ခြင်းမဟုတ်၊ ထိုလူ၏စိတ်ဆန္ဒအရ ပေါ်ပေါက်လာ ခြင်း ဖြစ်သည်ဟု ထင်ကြလေသည်။ ထို့ကြောင့် လူ တစ်ယောက်၏ လုပ်ဆောင်ချက်သည် လွတ်လပ်စွာ ပေါ်ပေါက်လာခြင်းလော၊ မရှောင်သာသော လိုအပ်ခြင်း နိယာမတရားကြောင့် ပေါ်ပေါက်လာခြင်းလော ဟူသော အချက်သည် ထို

လုပ်ဆောင်ချက်နှင့် လေ့လာသူ၏ အချိန် ကာလ အနီးအဝေးအပေါ်တွင် တည်လေသည်။ အချိန် ကာလအားဖြင့် ဝေးလျှင် လိုအပ်ခြင်း ပမာဏက များသည် ဟု ထင်မှတ်ရ၏။ နီးလျှင် လွတ်လပ်ခြင်း၏ပမာဏက များသည်ဟု ထင်မှတ်ရ၏။

ဥပမာ ကျွန်ုပ်တို့သည် လွန်ခဲ့သည့် တစ်ခဏက အလုပ်တစ်ခုကို ပြုလုပ်၏။ ယခုတစ်ဖန် ထိုအလုပ်သည် ပြန်၍ စစ်ဆေး၏။ ပြုလုပ်သည့်အချိန်နှင့် စစ်ဆေးသည့် အချိန်၌ ကျွန်ုပ်၏ အခြေအနေမှာ အတူတူပင် ဖြစ်၏။ အခြေအနေချင်းတူပါလျက် ထိုစဉ်က ပြုလုပ်ပြီး ယခု မည်သည့်အတွက်ကြောင့် ပြုလုပ်ခြင်း မရှိသနည်း၊ ထိုစဉ် က ကျွန်ုပ်ပြုလုပ်ခဲ့သောအလုပ်သည် စိတ်ဆန္ဒ၏ စေ့ဆော် မှုကြောင့် လွတ်လပ်စွာ ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟု ထင်ရ၏။ သို့ရာတွင် လွန်ခဲ့သော တစ်လခန့်က ပြုလုပ် ခဲ့သော အလုပ်တစ်ခုကို ယခုအခြေအနေတွင် ပြန်စစ်ဆေး လိုက်သောအခါ၌ကား (ငါ ဤသို့ပြုလုပ်ခဲ့၍ ဤအကျိုး  တရားများ ထင်လာခြင်း ဖြစ်သည်သည်။ ငါ ဤသို့ ( မလုပ်လျှင် ဤသို့မဖြစ်။ ထို့ကြောင့် ငါသည် ထိုအလုပ် ကို မရှောင်သာသော လိုအပ်ချက်ကြောင့် လုပ်ခဲ့ရခြင်း ဖြစ်သည်။)ဟု ထင်မည်သာ ဖြစ်လေသည်။ ထို့ထက် လွန်ခဲ့သော ဆယ်နှစ်ခန့်က ပြုလုပ်ခဲ့သည့် အလုပ်တစ်ခု ကို ပြန်၍ စစ်ဆေးလျှင်ကား ထိုလုပ်ဆောင်ချက်ကြောင့် ပေါ်ထွက်လာသော အကျိုးတရားများသည် ထင်ရှားသည် ထက် ထင်ရှားခဲ့လေပြီ။ ဤသို့ဖြင့် ရှည်ဝေးသောအတိတ်က လုပ်ဆောင်မှုတိုင်းကို ပြန်၍ စစ်ဆေးလိုက်တိုင်း၊ ထိုလုပ် ဆောင်မှုသည် လွတ်လပ်စွာ ပေါ်ပေါက်ခြင်းမဟုတ်၊ မရှောင်သာသော အကြောင်းတရားများကြောင့် ပေါ်ပေါက် ခြင်းဖြစ်သည်ဟု ထင်မှတ်လာတတ်ပေသည်။

ရာဇဝင်ကို ပြန်လည်သုံးသပ်၍ လူ့လောကကြီး၏ ယေဘုယျကိစ္စများတွင် လွတ်လပ်သော စိတ်ဆန္ဒသည် မည်သို့မည်ပုံ ပါဝင်လျက်ရှိသည်ဆိုခြင်းကို ကြည့်

မြင်သည့် အခါ၌လည်း ထို့အတူ ဖြစ်ပေသည်။ ကျွန်ုပ်တို့ မျက်မှောက် ခေတ်တွင် ပေါ်ပေါက်လျက်ရှိသည့် အဖြစ်အပျက်များသည် ကျွန်ုပ်တို့သိသော ပါဝင် ဆောင်ရွက်သူအားလုံး၏ စိတ်ဆန္ဒ ဖြင့် လွတ်လပ်စွာ ပေါ်ပေါက်လာသော လုပ်ဆောင်ချက် များဖြစ်သည်ဟု ထင်ရ၏။ သို့ရာတွင် ရှည်ဝေးသော အတိတ်ကာလမှ အဖြစ်အပျက်များကို ကြည့်လျှင်မူကား ၎င်းတို့သည် မရှောင်သာ သော အကြောင်းတရားများ ကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟုသာ ထင်ရ လေ သည်။ ဤသို့ဖြင့် အချိန်ကာလအားဖြင့် ဝေးကွာသည်နှင့် အမျှ အဖြစ်အပျက် သည်လည်း မလွှဲသာသော အကြောင်း တရားများကြောင့် ပေါ်ပေါက်လာသည်ဟု ထင်ရလေ သည်။ လူပုဂ္ဂိုလ်များ၏ စိတ်ဆန္ဒကြောင့် လွတ်လပ်စွာ ပေါ်ပေါက်လာ ခြင်းမဟုတ်ဟု ထင်ရလေသည်။

ယခု ဖြစ်ပွားလျက်ရှိသော ဩစတေးရီးယားနှင့် ပရပ်ရှားစစ်ပွဲသည် နန်းရင်း ဝန် ဘစ်စမတ်၏ ကောက်ကျစ် စဉ်းလဲမှုကြောင့်ဖြစ်ပွားခြင်း ဖြစ်သည်ဟု ထင် ရ၏။ နပိုလီယန် စစ်ပွဲများသည်လည်း ထိုစစ်ပွဲများတွင် ပါဝင် ( တိုက်ခိုက်သည့် လူစွမ်းကောင်းများ၏ စိတ်ဆန္ဒကြောင့် ဖြစ်ပွားခြင်း ဖြစ်သည်ဟု (တစ်ထစ်ချ ပြောနိုင်သော်လည်း) ယခုတိုင် ကျွန်ုပ်တို့ ယူဆလျက် ရှိကြသေး၏။ သို့ရာတွင် နောင်နှစ်ပေါင်းများစွာ အတန်ကြာ၍ နှောင်းလူတို့က ထိုအဖြစ်အပျက်များကို ပြန်၍ ငဲ့စောင်းကြည့်သည့်အခါ၌ ကား ၎င်းတို့သည် နန်းရင်းဝန် ဘစ်စမတ်၏ စိတ်ဆန္ဒ ကြောင့်လည်း မဟုတ်၊ မလွှဲသာသော လိုအပ်ခြင်း နိယာမတရားများ ကြောင့် ပေါ်ထွက်လာခြင်း ဖြစ်သည်ဟု ထင်ရမည်သာ ဖြစ်လေသည်။ ကရူးဆိတ် စစ်ပွဲများသည် လူပုဂ္ဂိုလ်အချို့၏ စိတ်ဆန္ဒကြောင့် ပေါ်ပေါက်ခဲ့ခြင်းဖြစ် သည်ဟု ထိုခေတ်က ခေတ်ပြိုင်ရာဇဝင်ဆရာများက ရေးခဲ့ကြသော်လည်း ယခု ကျွန်ုပ်တို့ ခေတ်၌ကား ထိုစစ်ပွဲ များသည် မလွှဲသာသော လိုအပ်ခြင်း နိယာမတရားကြောင့် ပေါ်ပေါက်ခဲ့ရသည်ဟု ယူဆနေကြပြီမဟုတ်ပါလော။ ထိုခေတ်က ပုဂ္ဂိုလ်များ

အမြင်၌ ဥရောပကမ္ဘာကြီး ပြန်လည် ဆန်းသစ်လာခြင်းသည် လူဆိုးကြီး အတ္တိလ၏ သောင်း ကျန်းမှုကြောင့် ဖြစ်သည်။ ၎င်း၏ စိတ်ဆန္ဒကြောင့်ဖြစ် သည်ဟု ယူဆခဲ့ကြသော်လည်း ယခုခေတ်၌မူကား ထိုသို့ ခေတ်ကြီးတစ်ခေတ်လုံးကို ပြောင်းလဲစေခဲ့ခြင်းသည် အတ္တိ လကြောင့် ဖြစ်သည်ဟု မည်သူက ထင်ရ ကောင်းမှန်း သိကြသေးသနည်း။ ကျွန်ုပ်တို့သည် ရှည်ဝေးသော ရာဇဝင် အဖြစ်အပျက်များကို ပြန်၍ စစ်ဆေး ဝေဖန်သည်နှင့်အမျှ ထိုအဖြစ်အပျက်တွင် ပါဝင်လှုပ်ရှားသူတို့သည် ၎င်းတို့ သဘောဖြင့် လွတ်လပ်စွာ လုပ်ဆောင်ရခြင်း မဟုတ်။ မလွှဲသာသော နိယာမတရား၏ သားကောင်းများသာ ' ဖြစ်ခဲ့ခြင်းကို ပို၍ထင်ရှားစွာ တွေ့ရလိမ့်မည်သာ ဖြစ်လေ . သည်။

(၃) တတိယအချက်မှာ အဖြစ်အပျက်တစ်ခုကို ပေါ်ပေါက်စေသော ကွင်းဆက်များသဖွယ် ဆက်လျက် ရှိသည့် အဆုံးမရှိသော အကြောင်းတရားဆက်များကို ကျွန်ုပ်တို့သည် မည်သည့်အတိုင်းအတာအထိ သိမြင်သ နည်း ဆိုသည့် အချက် ဖြစ်၏။ ဆင်ခြင်တုံတရားသည် ဤအကြောင်းတရားဆက်များကို ရှာဖွေ စူးစမ်း၏။ အကျိုး တရားတစ်ခုသည် ရှေ့က ဖြစ်ပြီးသော အကြောင်းတရား ကြောင့် ဖြစ်ပေါ်လာခြင်း၏ တစ်ဖန် ထိုအကျိုးတရား သည်လည်း ဒုတိယအကျိုးတရား၏ အကြောင်းတရား ဖြစ်လေသည်။ ဤသို့ဖြင့် ကွင်းဆက်သဖွယ် ဆက်၍ သွားသည်။ လူ၏ လုပ်ဆောင်ချက်များကိုလည်း ဤသို့ ဖြင့် ကွင်းဆက်သဖွယ် ဆက်၍သွားသည်။ လူ၏ လုပ် ဆောင်ချက်များကိုလည်း ဤသို့ဖြင့် ကွင်းဆက် သဖွယ် ဆက်၍သွားသည်။ လူ၏ လုပ်ဆောင်ချက်များကိုလည်း ဤသို့ ကြည့်မြင်ရမည် ဖြစ်လေသည်။

လူကို လွှမ်းမိုးချုပ်ကိုင်လျက်ရှိသော ရုပ်ပိုင်းဆိုင်ရာ နိယာမတရားများ၊ စိတ်ပိုင်းဆိုင်ရာ နိယာမတရားများနှင့် ရာဇဝင်ဆိုင်ရာ နိယာမတရားများကို သိမြင်လာ

သည်နှင့် အမျှ လူတစ်ဦး၏လုပ်ဆောင်ချက်ကို ဖြစ်ပေါ်စေသည့် ရုပ်ပိုင်းဆိုင်ရာ၊ စိတ်ပိုင်းဆိုင်ရာ ရာဇဝင်ဆိုင်ရာ အကြောင်း တရားများကို မှန်ကန်စွာ သိမြင်လာမည် ဖြစ်၏။ ထိုအခါ၌ ကျွန်ုပ်တို့ စစ်ဆေးလျက်ရှိသော လုပ်ဆောင်ချက် များကိုလည်း ကျွန်ုပ်တို့ အလွယ်တကူ နားလည်နိုင်လိမ့် မည် ဖြစ်၏။ ထိုလုပ်ဆောင်ချက်ကို ပြုသူ၏စိတ်နှင့် စိတ်နေသဘောထားကိုလည်း ကျွန်ုပ်တို့ အလွယ်တကူ သဘောပေါက်နိုင်လိမ့်မည် ဖြစ်၏။ ထိုအခါ၌ လုပ်ဆောင် ချက်များသည် လွတ်လပ်စွာ ပေါ်ပေါက်လာခြင်း မဟုတ်ဘဲ ( မလွှဲသာသော နိယာမတရားများ၏ စေ့ဆော်မှုကြောင့် ပေါ်ပေါက်လာခြင်းဖြစ်သည်ကိုလည်း တွေ့ရလိမ့်မည် ဖြစ်ပေသည်။

ကျွန်ုပ်တို့သည် လုပ်ဆောင်ချက်တစ်ခု (ရာဇဝတ်မှု တစ်မှု၊ သို့မဟုတ် ကောင်းမှုကုသိုလ်တစ်ခု)၏ အကြောင်း တရားကိုနားမလည်သည့်အခါ၌ ထိုလုပ်ဆောင်ချက်သည် ပြုလုပ်သူ၏ စိတ်ဆန္ဒအလျောက် လွတ်လပ်စွာ ပေါ်ပေါက်လာခြင်း ဖြစ်သည်ဟု ယူဆလေ့ရှိ၏။ ထို့ကြောင့် ရာဇ ဝတ်မှု ကျူးလွန်သူကို'၎င်း၏ အပြစ်အတွက် ပြစ်ဒဏ်စီရင် စေလိုကြ၏။ ကောင်းမှုပြုသူကို ချီးမြှောက်လိုကြ၏။ ( သို့ရာတွင် ထိုလုပ်ဆောင်ချက်၏ အကြောင်းတရားများစွာ အနက်မှ အကြောင်းတရားတစ်ခုမျှလောက်ကို ဖြစ်စေ၊ သိမြင်လာသည့် အခါ၌မူကား ထိုလုပ်ဆောင်ချက် ပေါ် ပေါက်လာခြင်းသည် (အခြားသော အကြောင်းတရားများ အပြင်) မလွှဲသာသော လိုအပ်ခြင်း နိယာမတရားကြောင့်လည်း ဖြစ်ကြောင်းကို တွေ့ရမည် ဖြစ်ပေသည်။ ထိုအခါ ၌ ရာဇဝတ်မှု ကျူးလွန်သူကို အပြစ်ပေးစေလိုသော ဆန္ဒများစွာရှိတော့မည် မဟုတ်ချေ။ ကောင်းမှုကုသိုလ် ပြုသူကိုလည်း အလွန်အကျူးချီးမြှောက်လိုသောဆန္ဒ ရှိ တော့မည် မဟုတ်ချေ။ လူသည် ၎င်း၏စိတ်ဆန္ဒဖြင့် လွတ်လပ်စွာ ဆောင်ရွက်ခြင်းဖြစ်သည်ဟုလည်း ထင်တော့ မည် မဟုတ်ချေ။ ရာဇဝတ်မှု ကျူးလွန်သူတစ်ဦးသည်

ရာဇဝတ်ကောင်များ၏ ပတ်ဝန်းကျင်တွင် ကြီးပြင်းလာခဲ့ ခြင်း ဖြစ်ကြောင်းကို တွေ့မြင်သည့်အခါ၌ ကျွန်ုပ်တို့သည် ထိုရာဇဝင်မှ ကျူးလွန်သူကို များစွာ အပြစ်မြင်တော့မည် မဟုတ်ချေ။ အလားတူပင် ဖခင်တစ်ယောက် သို့မဟုတ် မိခင်တစ်ဦး၏ ကိုယ်ကျိုးစွန့်မှုသည် အလားအလာကို မြော်ကိုး၍ ကိုယ်ကျိုးစွန့်ခြင်းမျိုး ဖြစ်သည်ကိုလည်းကောင်း တွေ့မြင်သည့်အခါ၌ ၎င်းတို့၏ လုပ်ဆောင်ချက်များသည် အထူးတလည် ချီးကျူးဖွယ် မဟုတ်ကြောင်းကို သိလာလိမ့် မည် ဖြစ်ပေသည်။ ၎င်းတို့၏ ကိုယ်ကျိုးစွန့်ခြင်းသည် 'စိတ်အလိုဆန္ဒအလျောက် လွတ်လပ်စွာ ပေါ်ထွက်လာခြင်း မဟုတ်ဘဲ မလွှဲသာသော လိုအပ်ခြင်းနိယာမ တရားကြောင့် ပေါ်ထွက်လာခြင်းဖြစ်ကြောင်းကို တွေ့ရမည် ဖြစ်ပေသည်။ လူတစ်ဦးသည် ဂိုဏ်းတစ်ဂိုဏ်း၊ သို့မဟုတ် နိုင်ငံရေး ပါတီတစ်ခုကို မည်သည့်အတွက်ကြောင့် မည်သို့မည်ပုံ တည်ထောင်သနည်း။ ပစ္စည်းတစ်ခုကို မည်သည့်အတွက် ကြောင့် မည်သို့မည်ပုံ တီထွင်သနည်း။ အကြောင်းတရား များကို မသိလျှင်ကား ထိုဂိုဏ်း တည်ထောင်သူ၊ ထိုနိုင်ငံ ရေးပါတီကို တည်ထောင်သူ၊ ထိုပစ္စည်းကို တီထွင်သူ တို့သည် ချီးကျူးဖွယ် ပုဂ္ဂိုလ်ထူးကြီးများ ဖြစ်သည်ဟု ထင်ရ၏။ သို့ရာတွင် ၎င်း၏ ဆောင်ရွက်ချက်များ၏ ' အကြောင်းတရားများကို သိမြင်လာသည့်အခါ၌ကား ၎င်း တို့သည် အထူးတလည် ချီးကျူးဖွယ်ကောင်းသော ပုဂ္ဂိုလ် များ မဟုတ်တော့ချေ။ သို့ဖြစ်ရကား လူများ၏ လုပ်ဆောင် ချက်များကို လေ့လာရာ၌ အကြောင်းတရားနှင့် အကျိုး တရားတို့၏ အပြန်အလှန် ဆက်စပ်နေပုံကို ကျွန်ုပ်တို့ သိမြင်လာသည်နှင့်အမျှ ၎င်းတို့၏ လုပ်ဆောင်ချက်များ သည်လည်း စိတ်ဆန္ဒကြောင့် လွတ်လပ်စွာ ပေါ်ပေါက် ခြင်း မဟုတ်ဘဲ လိုအပ်မှု၏ တိုက်တွန်းစေ့ဆော်ချက် ကြောင့် ပေါ်ပေါက်လာခြင်းဖြစ်ကြောင်းကို တွေ့လာရ လိမ့်မည် ဖြစ်ပေသည်။ အကြောင်းတရားနှင့် အကျိုးတရား တို့ကိုလည်း မှန်ကန်စွာ ဆက်စပ်ကြည့်ရှုနိုင်လိမ့်မည် ဖြစ်ပေသည်။ သာမန် လုပ်ဆောင်ချက်ကလေးများကို

စစ်ဆေးကြည့်ရှုရမည်ဆိုလျှင်လည်း ၎င်းတို့အားလုံးသည် မလွှဲသာသော လိုအပ်ခြင်း နိယာမတရားကြောင့် ပေါ် ပေါက်လာခြင်းသာ ဖြစ်ကြောင်းကို ကျွန်ုပ်တို့ သိမြင်လာ လိမ့်မည် ဖြစ်ပေသည်။ သာမန်လုပ်ဆောင်ချက်ကလေး အမျှ ၎င်းတို့၏ နေပုံကို ကျွန်ုပ်တို့ သည်လည်း များကို စစ်ဆေးကြည့်ရှုရမည်ဆိုလျှင်လည်း ၎င်းတို့အား လုံးသည် မလွှဲသာသော လိုအပ်ခြင်းနိယာမတရားကြောင့် ပေါ်ပေါက်လာခြင်းသာ ဖြစ်ကြောင်းကို ကျွန်ုပ်တို့ သိမြင် လာလိမ့်မည် ဖြစ်ပေသည်။ မရိုးဖြောင့်သောဖခင်၏ သားက မရိုးဖြောင့်သော အပြုအမူကို ပြုလုပ်ခြင်း၊ မကောင်းသည့် ပတ်ဝန်းကျင်တွင် ရောက်နေသော မိန်းမ တစ်ယောက်က မကောင်းသည့် အလုပ်ကိုလုပ်ခြင်း၊ အရက် သမားတစ်ယောက် အရက်မူးခြင်း စသည့် အပြုအမူများ ၏ အကြောင်းရင်းကို ကျွန်ုပ်တို့ နားလည်သည့်အခါ၌ ထိုအပြုအမူများသည် စိတ်ဆန္ဒအရ လွတ်လပ်စွာ ပေါ် ပေါက်လာရခြင်းမဟုတ်ကြောင်း၊ မလွဲသာ၍ ပေါ်ပေါက် လာရခြင်း ဖြစ်ကြောင်းကို တွေ့ရပေသည်။ ကလေးတစ် ယောက် သို့မဟုတ်၊ အရူးတစ်ယောက်၊ သို့မဟုတ် လူတစ်ယောက် စသည့် စိတ်ဓာတ်ဖွံ့ဖြိုးတိုးတက်ခြင်း မရှိသေးသူတို့၏ လုပ်ဆောင်ချက်များကို လေ့လာကြည့်၍ ၎င်းတို့၏စိတ်သဘောထား ရိုးသားခြင်း၊ အသိဉာဏ် မဖွံ့ဖြိုးခြင်းနှင့်တကွ ၎င်းတို့ လုပ်ဆောင်ချက်များ၏ အကြောင်းတရားများကို ကျွန်ုပ်တို့ သိမြင်လာသောအခါ၌ကား ၎င်းတို့၏ လုပ်ဆောင်ချက်များ၌ လွတ်လပ်မှုဟူ ၍ မရှိသလောက် နည်းပါးကာ လိုအပ်ခြင်း နိယာမ တရား၏ စေ့ဆော်မှုက ပမာဏ ကြီးထွားလျက် ရှိခြင်းကို တွေ့ရသည်။ ထို့ကြောင့်ပင် ၎င်းတို့ လုပ်ဆောင်ချက်များ အကြောင်းတရားများကို သိသည်နှင့် တစ်ပြိုင်နက် ထို လုပ်ဆောင်ချက်များမှ ပေါ်ပေါက်လာမည့် အကျိုးတရား များကို ကျွန်ုပ်တို့ ကြိုတင် ပြောနိုင်ခြင်းဖြစ်လေသည်။

တရားခံတစ်ဦးသည် ပြစ်မှုကျူးလွန်ရာ၌ ၎င်း၏ စိတ်ဆန္ဒအလျောက်လော၊ ပတ်ဝန်းကျင်အခြေအနေ အရပ် ရပ်၏ စေ့ဆော်မှုကြောင့်လော ဟူသည်ကို ဆုံးဖြတ်ရာ၌ တရားဥပဒေကျင့်ထုံးများသည် အထက်ပါအချက်သုံးချက် ကို အခြေခံ၍ စဉ်းစားကြသည်သာဖြစ်ပေသည်။ တရားခံ ရောက်ရှိနေသည့် အခြေအနေအရပ်ရပ်တို့ကို ကျွန်ုပ်တို့ မည်သည့်အတိုင်းအတာအထိ သိသနည်း။ ပြစ်မှုကျူးလွန် သည့်အချိန်နှင့် စုံစမ်းစစ်ဆေးသည့်ချိန် မည်မျှ ကွာခြား သနည်း။ ထိုပြစ်မှုကို ကျူးလွန်စေရန် စေ့ဆော်သော အကြောင်းတရားများကို ကျွန်ုပ်တို့ မည်သည့်အတိုင်းအတာ အထိ သိသနည်းဟူသော အချက်သုံးရပ်ပေါ်တွင် မူတည်၍  တရားခံအား အပြစ်ရှိမရှိကို ဆုံးဖြတ်ကြသည်သာ ဖြစ်ပေ သည်။

# အခန်း ၁၀

သို့တပြီးကား လုပ်ဆောင်ချက်တစ်ရပ်သည် စိတ်ဆန္ဒအ လျောက် လွတ်လပ်စွာ ပေါ်ခြင်းလော၊ သို့တည်းမဟုတ် မလွှဲသာသော လိုအပ်ခြင်း နိယာမတရား၏ စေ့ဆော်မှု ကြောင့် ပေါ်ထွက်လာခြင်းလော ဟူသော ပြဿနာ၌ ပြုလုပ်သူနှင့် ပြင်ပကမ္ဘာလောကကြီး၏ဆက်သွယ်မှု (ဒေသ)၊ လုပ်ဆောင်သူနှင့် စစ်ဆေးဝေဖန်သူတို့၏ကြား တွင် တည်ရှိသော အချိန်အကွာအဝေး(ကာလ)၊ နှင့် ပြုလုပ်သူနှင့် ပြုလုပ်မှုကို ဖြစ်ပေါ်စေသော အကြောင်းတရား များ၏ ဆက်သွယ်မှု (ပယောဂ)တို့ကို လိုက်၍ ဆုံးဖြတ် အပ်ပေသည်။ ဤနည်းအားဖြင့်သာ လူတစ်ယောက်၏ဘဝ ကို ဝေဖန် စဉ်းစားပေသည်။

ဥဒါဟရဏ်အားဖြင့် လူတစ်ယောက်သည် ပြင်ပ ကမ္ဘာလောကကြီးနှင့်လည်း ဆက်သွယ်မှု နီးစပ်အံ့၊ ၎င်း၏ ဆောင်ရွက်နှင့် ထိုဆောင်ရွက်ချက်ကို ဝေဖန်စစ်ဆေးမှုတို့ သည် အချိန်ကာလအားဖြင့်လည်း ဝေးကွာအံ့။ တစ်ဖန် ထို

ဆောင်ရွက်ချက်များ၏ အကြောင်းတရားများကိုလည်း ကျွန်ုပ်တို့ သိအံ့။ ထိုအခါ၌ ထိုလူ၏ ဆောင်ရွက်ချက် သည် ၎င်း၏ စိတ်ဆန္ဒကြောင့် ပေါ်ပေါက်လာခြင်း မဟုတ်ဘဲ မလွဲသာသော နိယာမတရားများကြောင့် ပေါ် ပေါက်လာခြင်း ဖြစ်သည် ဟု ကျွန်ုပ်တို့ မြင်ကြရလိမ့်မည် ဖြစ်ပေသည်။ တစ်ဖန် လူတစ်ယောက်သည် ပြင်ပ ကမ္ဘာ လောကကြီးနှင့် ဆက်သွယ်မှု ဝေးကွာအံ့၊ ၎င်း၏ ဆောင်ရွက်သည်လည်း မ ကြာမီကမှ ပေါ်ပေါက်လာခဲ့ခြင်း ဖြစ်အံ့။ ထိုဆောင်ရွက်ချက်များ၏ အကြောင်းတရားများ ကိုလည်း ကျွန်ုပ်တို့ သိမြင်ခြင်း မရှိအံ့။ ထိုအခါ၌ ထိုလူ ၏ ဆောင်ရွက်ချက်သည် မလွဲသာသော နိယာမတရားများ ၏ စေ့ဆော်မှုကြောင့် ပေါ်ပေါက်ခြင်းမဟုတ်ဘဲ ၎င်း၏ စိတ်ဆန္ဒကြောင့် လွတ်လပ်စွာ ပေါ်ပေါက်လာ ခြင်း ဖြစ် သည်ဟု ကျွန်ုပ်တို့ မြင်ကြရလိမ့်မည် ဖြစ်လေသည်။

သို့ရာတွင် ကျွန်ုပ်တို့အမြင်၌ကား ကျွန်ုပ်တို့သည် ထိုလူနှင့် ပြင်ပကမ္ဘာ လောကကြီး၏ ဆက်သွယ်မှုသည် နီးစပ်သည်ဖြစ်စေ၊ ဝေးကွာသည်ဖြစ်စေ၊ အချိန်ကာလအား ဖြင့်လည်း တိုသည်ဖြစ်စေ၊ ရှည်သည်ဖြစ်စေ၊ အကြောင်း တရားများကို ကျွန်ုပ်တို့ သိသည်ဖြစ်စေ၊ မသိသည်ဖြစ်စေ၊ ထိုဥဒါဟရဏ် နှစ်ရပ် စလုံး၌ လုံးဝ လွတ်လပ်ခြင်းဟူ၍ မရှိနိုင်ချေ။ မလွဲသာသော လုံးဝလိုအပ်ခြင်း ဟူ၍လည်း မရှိချေ။

လုံးဝလွတ်လပ်ခြင်းဟူ၍မရှိဟု ဆိုရခြင်းမှာ အောက် ပါအကြောင်းများ ကြောင့် ဖြစ်၏။

(၁) လူတစ်ယောက်သည် ပြင်ပကမ္ဘာလောက ကြီး၏ သြဇာလွှမ်းမိုးမှုမှ အရောင်ရိုက်ခတ်မှု၊ စေ့ဆော်မှု မည်မျှ လွတ်ကင်းသည်ဆိုစေ ဟင်းလင်းပြင်ထဲ၌ မီတင်း နေထိုင်သမျှ ကာလပတ်လုံး လွတ်လပ်ခြင်းဟူ၍ မရှိနိုင် ချေ။ လူ၏ လုပ်ဆောင်ချက်တိုင်းကို လူ၏ ပတ်ဝန်းကျင် ရှိ အရာများနှင့် လူ၏ခန္ဓာကိုယ်ကြီး

က ပြုပြင်ဖန်တီးလျက် သာ ရှိလေသည်။ ဥပမာအားဖြင့် ကျွန်ုပ်သည် လက်ကို မြှောက်၏။ ထို့နောက်ပြန်ချ၏။ ဤအပြုအမူသည် လွတ် လပ်စွာ ပေါ်ပေါက်လာသော အပြုအမူဟု ထင်ရ၏။ သို့ရာတွင် မြှောက်ချင်သည့်ဘက်သို့ မြှောက်က ရသလော။ မရချေ။ အရာဝတ္ထုများက တားဆီးနှောင့်ယှက် ခြင်း မရှိသည့်ဘက်သို့သာ မြှောက်နိုင်သည် မဟုတ်လော။ သို့မဟုတ် ကျွန်ုပ်၏ ခန္ဓာကိုယ်ကြီး၏ အနေအထားက တားဆီးနှောင့်ယှက်ခြင်း မပြုသည့်ဘက်သို့သာ မြှောက်နိုင်သည်မဟုတ်လော။ ဤတွင် ကျွန်ုပ်၏စိတ်ဆန္ဒအလျောက် လွတ်လပ်စွာ လက်မြှောက်သည်ဆိုရာ၌ အတားအဆီး မရှိသည့်ဘက်၊ ခန္ဓာကိုယ် အနေအထားက ခွင့်ပြုသည့်ဘက် သို့သာ မြှောက်နိုင်ခြင်းကို တွေ့ရာလေပြီ။ သို့ဖြစ်လျက် လွတ်လပ်ပါသေးသလော။ ကျွန်ုပ်၏ လုပ်ဆောင်ချက် သည် အတားအဆီး မရှိ၊ အနှောင့်အယှက်မရှိ၊ စေ့ ခြင်း မရှိ၊ တိုက်တွန်းခြင်း မရှိ ပေါ်ပေါက်လာမှသာလျှင် ၎င်း၏ လွတ်လပ်သည်ဟု ခေါ်ရလိမ့်မည် ဖြစ်ပေသည်။

လောက၌ လုံးဝ လွတ်လပ်သော လူတစ်ယောက်ကို ပြပါဆိုလျှင် ထိုလူသည် ဟင်းလင်းပြင် အပြင်ဘက်တွင် မှီတင်းနေထိုင်သူတစ်ဦးသာ ဖြစ်ရပေလိမ့်မည်။ သို့ရာ တွင် ဤဟင်းလင်းပြင်၏အပြင်ဘက်တွင် မှီတင်းနေထိုင် သူဆိုသည်မှာလည်း မရှိနိုင်ချေ။

(၂) ကျွန်ုပ်တို့သည် လူတကာ၏လုပ်ဆောင်  ချက်ကို စစ်ဆေးရာ၌ လုပ်ဆောင်သည့်အချိန်နှင့် စစ်ဆေး သည့်အချိန်သည် မည်မျှဝေးကွာသည်ဖြစ်စေ၊ အချိန်ကာလ သဘော၌ လွတ်လပ်ခြင်းဟူ၍ မရှိနိုင်ချေ။ ဥပမာအားဖြင့် ကျွန်ုပ်သည် လွန်ခဲ့သည့် တစ်စက္ကန့်က ပြုလုပ်ခဲ့သော ' လုပ်ဆောင်ချက်တစ်ခုကို ပြန်လည်စစ်ဆေးသောအခါ၌ ထိုလုပ်ဆောင်ချက်သည် လွတ်လပ်စွာ ပေါ်ပေါက်လာသော လုပ်ဆောင်ချက်ဟု ထင်ရ၏။ သို့ရာတွင် စင်စစ်၌ကား မလွတ်လပ်ချေ။ အကြောင်းမူကား ထိုလုပ်ဆောင်ချက် သည် လုပ်ဆောင်ချက်ကို ပြုလုပ်သည့်

အချိန်ကာလနှင့် ဆက်စပ်လျက်ရှိကာ ထိုအချိန်ကာလကို အမှီပြုနေသော ကြောင့် ဖြစ်လေသည်။ ကျွန်ုပ်သည် ကျွန်ုပ်၏ လက်ကို မမြှောက်ဘဲ နေနိုင် သလော။ ထိုသို့မေးပြီးသည့်နောက် တစ်ခဏ၌ ကျွန်ုပ်သည် လက်မမြှောက်ဘဲ နေ နိုင်ခြင်းကို သက်သေပြရန်အတွက် လက်ကို မမြှောက်ဘဲ ထား၏။ သို့ရာတွင် လက်မမြှောက်ဘဲ နေနိုင်သလောဟု မေးသည့် အချိန်နှင့် "လက်မမြှောက်ဘဲထား သည့်"အချိန်သည် မတူ တော့ပြီ။ အချိန်ကွာခြားခဲ့လေပြီ။ အချိန်ကို ကျွန်ုပ်သည် တားဆီးခဲ့လေပြီ။ အချိန်ကို ကျွန်ုပ်သည် တားဆီးခြင်းငှာ မတတ်နိုင်ပြီ။ ထိမှုမက စောစောက မြှောက်ခဲ့သောလက် နှင့် ယခု မမြှောက်ဘဲထားသော လက်သည် လည်း မတူ တော့ပြီ။ ထိုမျှမက ကျွန်ုပ် လက်မြှောက်စဉ် ကျွန်ုပ်ပတ် ဝန်းကျင်တွင် ရှိနေသော လေထုနှင့် လက်မမြှောက်ဘဲ ထားစဉ် ကျွန်ုပ်၏ ပတ်ဝန်းကျင်တွင် ရှိ နေသော လေထု သည်လည်း မတူတော့ပြီ။ လက်မြှောက်ထားစဉ်က ရှိခဲ့ သော အချိန်သည် ကုန်လွန်သွားခဲ့လေပြီ။ ကျွန်ုပ်သည် လက်မြှောက်ခြင်းနှင့် လက်ချ ထားခြင်းကို တစ်ပြိုင်နက် ' မလုပ်နိုင်ချေ။ တစ်ခုတည်းကိုသာ လုပ်နိုင်ပေသည်။ နောက်တစ်ခဏတွင် ကျွန်ုပ်၏လက်ကို မမြှောက်ဘဲ ထားခြင်းသည် လက်မြှောက် ရန် စိတ်ဆန္ဒ မဖြစ်ပေါ်ခြင်း ကြောင့် မဟုတ်ချေ။ ကျွန်ုပ်သည် တစ်ချိန်တည်း၌ လက်မြှောက်ခြင်းနှင့် လက်ချထားခြင်းနှစ်ခုစလုံးကို မလုပ် နိုင်သောကြောင့်သာ ဖြစ်လေသည်။ ထို့ကြောင့် ကျွန်ုပ်တို့ ၏ လုပ်ဆောင်ချက်သည် လွတ်လပ်သည်။ စိတ်ဆန္ဒ အလျောက် အလိုအလျောက် ပေါ်ပေါက်နိုင်သည်ဟု ထင်လျှင် အတိတ် နှင့် အနာဂတ်တို့၏ နယ်နိမိတ်ဖြစ်သော ပစ္စုပ္ပန်တစ်ခုတည်းရှိမှသာ ဖြစ်ပေ လိမ့်မည်။ တစ်နည်းအား ဖြင့် အချိန်ကာလ၏ အပြင်ဘက်၌ တည်ရှိမှ ဖြစ်နိုင်ပေ လိမ့်မည်။ သို့ရာတွင် လောက၌ အချိန်ကာလနှင့် ကင်း ၍ တည်နေသောအရာဟု မရှိနိုင်ချေ။ , (၃) ကျွန်ုပ်တို့သည် လုပ်ဆောင်ချက်တစ်ခု၏ အကြောင်းတရားကို မည်မျှနားလည်သည်ဖြစ်စေ ထို လုပ်ဆောင်ချက်၌ လုံးဝလွတ်လပ်ခြင်း ဟူသော

အရာဟူ၍ မရှိနိုင်ချေ။ (ဝ) အကြောင်းတရား မရှိသော လုပ်ဆောင် ချက်ဟူ၍ မရှိနိုင်ချေ။ ကျွန်ုပ်တို့သည် မိမိ၏ လုပ်ဆောင် ချက်၊ သို့မဟုတ် အခြားသူတစ်ဦး၏ လုပ်ဆောင်ချက်၏ အကြောင်းတရားကို မည်မျှနားလည်ခြင်း မရှိသည်ဖြစ်စေ ဆင်ခြင်တုံတရားကမူ အကြောင်းတရား ရှိရမည်ဟု ယူဆလျက်ရှိကာ ထို အကြောင်းတရားကို ရှာဖွေလျက် ရှိလေသည်။ အကြောင်းတရားဟူ၍ မရှိဘဲ မည်သည့် အကျိုးတရားမျှ မထင်နိုင်ချေ။ ကျွန်ုပ်သည် အကြောင်း တရားနှင့်ကင်းသော လုပ်ဆောင်ချက်တစ်ခုကို ပြုလုပ်ရန် လက်ကို မြှောက်၏။ သို့ရာတွင် ထိုသို့ အကြောင်းတရား နှင့် ကင်းသော လုပ်ဆောင်ချက်တစ်ခုကို ပြုလုပ်ရန် ရည်ရွယ်ခြင်းသည်ပင်လျှင် လုပ်ဆောင်ချက်၏အကြောင်း တရား ဖြစ်လျက် ရှိလေပြီ။

ထိုမျှမက လူတစ်ယောက်သည် ပြင်ပလောက ကမ္ဘာကြီး၏ ဩဇာ၊ ပတ်ဝန်းကျင်၏ ဩဇာမှ ကင်းလွတ် သည်ပင် ထားပါဦး၊ ပစ္စုပ္ပန်တွင် ပြုလုပ်သည့် ၎င်း၏ ရုတ်တရက် လုပ်ဆောင်ချက်တစ်ခုကိုပင် စဉ်းစားသည် ထားပါဦး။ ထို လုပ်ဆောင်ချက်၌ မည်သည့်အကြောင်း တရားမျှ မရှိဟုပင် ထားပါဦးမည်။ လူများ၏လုပ်ဆောင် ချက်များ၌လည်း မလွဲသာသော နိယာမတရား၏ ပမာဏသည် သုညနှင့် ညီမျှသော ပမာဏမျှသာ ပါဝင်သည်ပင် ထားပါဦး။ ထိုအခါ၌လည်း ကျွန်ုပ်တို့သည် လုံးဝလွတ် လပ်ခြင်းကို တွေ့နိုင်လိမ့်မည်မဟုတ်ချေ။ အကြောင်းသော် ကား ပြင်ပကမ္ဘာလောကကြီး၏ ဩဇာမှ ကင်းလွတ်၍ အချိန်ကာလ၏ အပြင်ဘက်တွင် ရပ်တည်ကာ အကြောင်း တရားနှင့် ကင်းကွာလျက်ရှိသည့် သတ္တဝါတစ်ဦးသည် လူသတ္တဝါတစ်ဦး မဟုတ်နိုင်သောကြောင့်သာတည်း။

ထို့ကြောင့် လောက၌ လုံးဝလွတ်လပ်ခြင်းဟူ၍ မရှိနိုင်ဟု ဆိုခြင်းဖြစ်၏။ တစ်ဖန် လုံးဝလိုအပ်ခြင်း၊ မရှောင် မလွဲသာ ဖြစ်ရခြင်းဟူ၍လည်း ရှိသလော။ မရှိ

နိုင်ချေ။ လူ၏လုပ်ဆောင်ချက်ဟူသရွေ့သည် လွဲရှောင်မရ ခြင်း နိယာမတရား၏ လက်အောက်ခံ လုံးလုံးဖြစ်သည် ဟူ၍လည်း မပြောနိုင်ချေ။

ဤသို့ဆိုရခြင်းမှာ အောက်ပါအကြောင်းတို့ကြောင့် ဖြစ်၏။

(၁) ကျွန်ုပ်တို့သည် လူမှီတင်းနေသော ဟင်းလင်း ပြင်ကြီး၏အခြေအနေကို မည်မျှသိစေကာမူ ကျွန်ုပ်တို့၏ အသိတရားသည် မည်သည့်အခါမျှ ပြည့်စုံလိမ့်မည် မဟုတ် ချေ။ အကြောင်းမူကား ထိုအခြေအနေများ၏ အရေ အတွက်သည် အဆုံးအစမရှိသော ဟင်းလင်းပြင်ကဲ့သို့ အဆုံးအစမရှိ များပြားလှသောကြောင့် ဖြစ်လေသည်။ ထို့ကြောင့် လူကို လွှမ်းမိုးသြဇာပေးလျက်ရှိသော ပတ်ဝန်း ကျင် အခြေအနေအားလုံးကို ကျွန်ုပ်မသိသမျှ ကာလပတ် လုံး လောက၌ လုံးဝရှောင်လွှဲမရခြင်းဟူ၍ မရှိနိုင်ချေ။ တစ်စုံတစ်ခုသော လွတ်လပ်မှု အတိုင်းအတာသည် ကျန်ရှိ နေသည်သာ ဖြစ်ပေသည်။

(၂) လုပ်ဆောင်ချက်တစ်ခုကို ပြုလုပ်သည့်အချိန် နှင့် ထိုလုပ်ဆောင်ချက်ကို စစ်ဆေးသည့်အချိန်နှစ်ခုတို့ ကြား၌ ကာလအားဖြင့် မည်မျှ ရှည်ဝေးစေကာမူ ထိုကာလ သည် အဆုံးရှိသည်သာ ဖြစ်ပေသည်။ အချိန်သာလျှင် အဆုံးမရှိခြင်း ဖြစ်လေသည်။ ထို့ကြောင့် ဤအချက်၌ လည်း လုံးဝ လွှဲရှောင်မရခြင်းဟူ၍ မရှိနိုင်ချေ။

(၃) လုပ်ဆောင်ချက်တစ်ခု၌ သံကွင်းဆက် သဖွယ်ရှိသော အကြောင်းတရားဆက်များကို ကျွန်ုပ်တို့ မည်မျှသိသည် ဆိုစေကာမူ ကျွန်ုပ်တို့သည် ထိုမျှ ရှည်လျား သော ကွင်းဆက်သဖွယ် ရှိသည့်အကြောင်းတရားဆက်များ ကို သိမြင်နိုင်မည် မဟုတ်ချေ။ အကြောင်းသော်ကား ထိုအကြောင်းတရားကွင်းဆက်များ၌ အဆုံးမရှိသော ကြောင့် ဖြစ်လေသည်။ ထို့ကြောင့် လုံးဝ ရှောင်လွှဲမရ ခြင်း ဟူသည်မရှိနိုင်ချေ။

ထိုမျှမက လွတ်လပ်ခြင်း၏ ပမာဏသည် သုညနှင့် ညီမျှသော ပမာဏရှိသည်ဆိုလျှင် ကျွန်ုပ်တို့ ထင်သကဲ့သို့ သေခါနီးလူတစ်ယောက်၊ သို့မဟုတ် မမွေးသေးသော ကလေးတစ်ယောက်၊ သို့မဟုတ် လူညံ့လူဖျင်းတစ်ယောက် စသည်တို့တွင် ဖြစ်ပေါ်လေ့ရှိသည့် နည်းတူ လွတ်လပ် ခြင်းဟူ၍ လုံးဝမရှိဟုဆိုလျှင် လူ့ဘဝ၊ လူ့အဖြစ်ကိုပါ ပယ်ဖျက်ရတော့မည် ဖြစ်လေသည်။ အကြောင်းမူကား လွတ်လပ်ခြင်းဟူ၍ မရှိတော့သည်နှင့် တစ်ပြိုင်နက် လူဟူ၍ မရှိတော့သောကြောင့် ဖြစ်ပေသည်။ သို့ဖြစ်ရကား လောက၌ လူ၏ လုပ်ဆောင်ချက်များသည် လုံးဝ လွတ်လပ်ခြင်း မရှိနိုင်သကဲ့သို့ ရှောင်လွှဲမရခြင်းနိယာမ တရား၏ လုံးဝ ဩဇာခံလည်း မဖြစ်နိုင်ချေ။

ထို့ကြောင့်လူ၏ လုပ်ဆောင်ချက်သည် လုံးဝ လွတ်လပ်ခြင်းမရှိ၊ ရှောင်လွှဲမရခြင်း နိယာမတရား၏ ဩဇာကို လုံးဝ နာခံရသည်ဟု ယူဆသည်နှင့် တစ်ပြိုင်နက် လူသည် “အဆုံးမရှိသော”ဟင်းလင်းပြင် ဆက်သွယ်မှု၊ “အဆုံးမရှိ” ရှည်လျားသောအချိန်၊ အဆုံးမရှိသော” အကြောင်းတရားဆက်များကို သိမြင်သည်ဟု ယူဆရတော့ မည်သာ ဖြစ်လေသည်။

တစ်ဖန် လူ၏ လုပ်ဆောင်ချက်သည် ရှောင်လွှဲမရ • မရခြင်း နိယာမတရားကို လုံးဝနာခံခြင်း မရှိ၊ လုံးဝ လွတ်လပ်သည်ဟု ယူဆသည်နှင့် တစ်ပြိုင်နက် လူသည် တစ်ယောက်ထီးတည်းနေသည်။ ဟင်းလင်းပြင်၏ အပြင် ဘက်၊ 'အချိန်၏ အပြင်ဘက်”၌ “အကြောင်းတရားများနှင့် အဆက်အစပ်ကင်းစွာ တည်ရှိနေသည်”ဟု ယူဆရတော့ မည်သာ ဖြစ်လေသည်။

လူသည် ရှောင်လွှဲမရခြင်း နိယာမတရားကို လုံးဝ နာခံရသည်ဟု ယူဆလျှင် ကျွန်ုပ်တို့သည် ရှောင်လွှဲမရ ခြင်းကို အဓိပ္ပာယ်ဖွင့်ဆိုရာ၌ အခြားမည်သည့်အရာနှင့်မျှ ဖွင့်ဆိုခြင်း ပြုနိုင်တော့မည် မဟုတ်ဘဲ ရှောင်လွှဲမရခြင်း နိယာမတရားဖြင့်

သာလျှင် ဖွင့်ဆိုရတော့မည် ဖြစ်လေ သည်။ ထိုသို့ဖွင့်ဆိုလျှင် လောက၌ နာမ်ဟူ၍ မရှိ၊ ရုပ်ချည်းသာ ရှိပေလိမ့်မည်။

တစ်ဖန် လူသည် လုံးဝလွတ်လပ်သည်ဟု ယူဆပြန် လျှင်လည်း ၎င်းမှာ ဟင်းလင်းပြင်၊ အချိန်၊ အကြောင်း တရားစသည်တို့၏ ပြုပြင်ဖန်တီးခြင်းမှလည်း ကင်းလွတ် သည်ဟု ဆိုရာရောက်ပေလိမ့်မည်။ ဤမျှ လွတ်လပ်ခြင်း၊ အချုပ်အနှောင်ကင်းခြင်းသည် မည်သည့်အဓိပ္ပာယ်မျှ မရှိ သည့်သဘောကိုသာ ဆောင်ပေလိမ့်မည်။ ဤသို့ ဖွင့်ဆို လျှင် လောက၌ ရုပ်မရှိ၊ စိမ်ချည်းသာ ရှိပေ လိမ့်မည်။ ဗဟိဒ္ဓဟူ၍ မရှိ၊ အဇ္ဈတ္တချည်းသာ ဖြစ်နေပေလိမ့်မည်။

စင်စစ်၌ကား ကျွန်ုပ်တို့၏အမြင်သည် ထိုအစွန်း  နှစ်စွန်းကို ရှောင်ကြဉ်၍ မဇ္ဈိမပဋိပဒါကျရလိမ့်မည် ဖြစ် ပေသည်။ စကြဝဠာကြီးနှင့် ပတ်သက်သော လူ၏ ရှုမြင် ချက်သည် မဇ္ဈိမပဋိပဒါနည်းပေါ်တွင်သာ အခြေပြုပေ သည်။

(၁) ဟင်းလင်းပြင်သည် အသွင်အမျိုးမျိုးရှိသော ရုပ်တို့ဖြင့် ဖွဲ့စည်း ထားသည်။ ထို ရုပ်တို့ကြောင့်သာ ကျွန်ုပ်တို့ ဟင်းလင်းပြင်ကို မြင်နိုင်ခြင်း ဖြစ်သည်။ ဟင်းလင်းပြင်သည် အစမရှိ၊ အဆုံးမရှိ။ ဟင်းလင်းပြင် ကို ဤနည်းမှ အပ အခြားတစ်ပါးသော နည်းတို့ဖြင့် ထင်နိုင် မြင်နိုင်စွမ်းမရှိ။

(၂) အချိန်သည် တဒီမျှ ရပ်နားခြင်းမရှိ။ အစ အဆုံးမရှိသော လှုပ်ရှား ပြောင်းလဲမှု ဖြစ်သည်။ အချိန်ကို ထိုနည်းမှအပ အခြားတစ်ပါးသော နည်းတို့ဖြင့် သိနိုင် နားလည်နိုင်စွမ်း မရှိ။

(၃) အကြောင်းတရားနှင့် အကျိုးတရားတို့၏ ဆက်သွယ်မှုသည် အစလည်း မရှိ။ ထို့ကြောင့် အဆုံးသည် မရှိနိုင်။

ဤကား ရုပ်ကို အလေးပေး၍ စဉ်းစားသော ဆင်ခြင်တုံတရား၏ အဆို ဖြစ်၏။

(၁) လောက၌ ငါသာ ရှိ သည်။ ရှိရှိသမျှ သော အရာတို့သည် ငါက ထင် သောကြောင့် ရှိနေကြခြင်း ဖြစ်သည်။ ထို့ကြောင့် ငါသာလျှင် ဟင်းလင်းပြင် ဖြစ် သည်။

(၂) ငါသည် ရေလျဉ်ကဲ့သို့ တသွင်သွင် စီးနေ သောအချိန်ကို ပစ္စုပ္ပန်ဟု သတ်မှတ်သည့်ကာလဖြင့် တိုင်းထွာခြင်းပြုသည်။ ထိုပစ္စုပ္ပန်၌ ငါ တစ်ယောက်တည်း သာ အသက်ရှင်နေသည်ဟု ငါသိသည်။ ထို့ကြောင့် ငါသည် အချိန်၏ အပြင်ဘက်တွင် ရပ်တည်နေသည်။ အချိန်နှင့်ကင်းလွတ်၍ တည်ရှိ နေသည်။

(၃) ငါသည် အကြောင်းတရား၏ အပြင်ဘက် တွင် ရပ်တည်နေသည်။ အဘ ယ့်ကြောင့်ဆိုသော် ငါ့ဘဝ ၏ အခြင်းအရာများကို ပေါ်ပေါက်အောင် ဖန်တီးသူမှာ ငါပင်ဖြစ်သည်ဟု ထင်သောကြောင့် ဖြစ်သည်။

ဤကား စိတ်ကို အလေးပေး၍ စဉ်းစားသော သိစိတ်၏အဆိုဖြစ်၏။

သို့ဖြင့် ဆင်ခြင်တုံတရားသည် ရှောင်လွှဲမရခြင်း နိယာမတရားများကို ဖော်ပြ၏။ သိစိတ်သည် လွတ်လပ် ခြင်း အဓိပ္ပာယ်ကို ဖော်ပြ၏။

လွတ်လပ်ခြင်းသည် စိတ်ကို အသားပေးလွန်း၏။ ဤသည်ပင်လယင် ဘဝ၏ အနှစ်သာရဖြစ်သည်ဟု လူ၏ သိစိတ်က ယူဆ၏။ မလွှဲသာသော လိုအပ် ခြင်း နိယာမတရားသည် ရုပ်ကို အလေးပေးလွန်း၏။ ဤသည် ပင်လျှင် လူ၏ ဆင် ရခင်တုံတရား ဖြစ်လျက် ရှိလေသည်။

လွတ်လပ်ခြင်းသည် စစ်ဆေးစမ်းသပ်ခြင်း ခံရသည့် အရာဖြစ်၏။ မလွဲသာသော လိုအပ်ခြင်းနိယာမတရားကား စစ်ဆေးစမ်းသပ်သောအရာ ဖြစ်၏။ လွယ်လပ်ခြင်းသည် အဇ္ဈအတ္တသန္တာန်ဖြစ်၏။ စိတ်ဖြစ်၏။ မလွဲသာသော လိုအပ်ခြင်းနိယာမကား ဗဟိဒ္ဓသဏ္ဌာန်ဖြစ်၏။ ရုပ်ဖြစ် ၏။

၎င်းတို့နှစ်ခုကြောင့် ငါဟု ရှိခြင်း၊ သိခြင်း ဖြစ် -၏။ ၎င်းတို့နှစ်ခုသည် အဇ္ဈတ္တသန္တာန်နှင့် ဗဟိဒ္ဓသဏ္ဌာန် ' အဖြစ် ဆက်သွယ်လျက်ရှိကြ၏။ ထိုနှစ်ခုကို တစ်ခုစီ ခွဲခြားကြည့်မှသာလျှင် ကျွန်ုပ်တို့သည် တသီးတခြားစီ တည်ရှိသော မြင်နိုင် ထင်နိုင်စွမ်း မရှိသော လွတ်လပ်ခြင်း နှင့် လိုအပ်ခြင်းဟူ၍ ရှိသည်ဟု သဘောပေါက်နိုင်လိမ့်မည် ဖြစ်ပေသည်။

ထိုနှစ်ခု ပေါင်းစပ်ကြည့်မှသာလျှင် လူ့ဘဝ၏ အဓိပ္ပာယ်ကို ရှင်းလင်းစွာနားလည်နိုင်လိမ့်မည် ဖြစ်ပေ သည်။

ထိုနှစ်ခုကို ပေါင်းစပ်လိုက်သောအခါ၌ ထိုနှစ်ခု သည် တစ်ခုကိုတစ်ခု အပြန်အလှန် အမှီသဟဲ ပြုလျက် ရှိကြ၏။ အပြန်အလှန် အကျိုးပြုလျက်ရှိကြ၏။ ရုပ်နှင့် ၊ စိတ်အဖြစ် တစ်ခုကိုတစ်ခု ဖော်ပြလျက်ရှိကြ၏။ ထိုနှစ်ခု မရှိသည်နှင့် တစ်ပြိုင်နက် ဘဝဟူ၍လည်း မရှိနိုင်တော့ ချေ။

လူ၏ဘဝကိုသိသော ကျွန်ုပ်တို့၏သိခြင်းသည် တခြားမဟုတ်။ လွတ်လပ်သော စိတ်ဆန္ဒနှင့် ရှောင်လွှဲ မရသော လိုအပ်ခြင်း နိယာမတရားတို့၏ ဆက်သွယ်ပုံကို သိခြင်းသာ ဖြစ်လေသည်။ တစ်နည်းကား သိစိတ်နှင့် ဆင်ခြင်တုံ တရား၏ နိယာမတရားများကို အချင်းချင်း၏ ဆက်သွယ်မှုကို သိခြင်းသာ ဖြစ်လေသည်။ တစ်နည်းကား စိတ်နှင့် ရုပ်တို့၏ ဆက်သွယ်မှုကို သိခြင်းသာ ဖြစ်လေ , သည်။

သဘာဝ၏ ပြင်ပကမ္ဘာလောကကြီးကို သိသော ကျွန်ုပ်တို့၏ သိခြင်းသည် အခြားမဟုတ်။ သဘာဝ အင်အားစုနှင့် ရှောင်လွှဲမရခြင်း နိယာမတရား၏ ဆက်သွယ်မှုကို သိခြင်းသာ ဖြစ်လေသည်။ တစ်နည်းကား ဘဝ၏ အနှစ်သာရဖြစ်သော လွတ်လပ်ခြင်းနှင့် ဆင်ခြင် တုံတရား၏ နိယာမတရားများတို့ အချင်းချင်း၏ ဆက်သွယ်မှုကို သိခြင်းသာဖြစ်လေသည်။ တစ်နည်းကား စိတ်နှင့်ရုပ်တို့၏ ဆက်သွယ်မှုကို သိခြင်းသာ ဖြစ်လေ သည်။

ဆန်းကြယ်ကြီးမားသော သဘာဝ၏ အင်အားစု များသည် ကျွန်ုပ်တို့၏ အပ၌ ရပ်တည်နေကြ၏။ ၎င်းတို့၏ အခြင်းအရာကို ကျွန်ုပ်တို့ မသိကြချေ။ ၎င်း အင်အားစုများကို ဆွဲငင်ခြင်း၊ စွမ်းအားမဲ့ခြင်း၊ လျှပ်စစ် ဓာတ် တိရစ္ဆာန်အား စသည်ဖြင့် အမျိုးမျိုး အမည်ပေးကြ ၏။ သို့ရာတွင် လူ၏ အတွင်း၌ရရှိသောအား ကိုမူ ကျွန်ုပ်တို့ သိကြပေသည်။ ထိုအားကို လွတ်လပ်ခြင်းဟု အမည်ပေးကြလေ သည်။

သို့ရာတွင် ကျွန်ုပ်တို့သည် ဆွဲငင်ခြင်း၏ အားကို ၎င်း၏ အလိုအလျောက် မြင်နိုင်ထွင်နိုင်ခြင်း မရှိ။ လူက စမ်းသပ်မှသာ မြင်နိုင်ထင်နိုင်ခြင်းမရှိ။ လူက စမ်းသပ်မှသာ မြင်နိုင်ထင်နိုင်ခြင်းရှိ၏။ ကျွန်ုပ်တို့သည် ဆွဲငင်ခြင်းအားကို နားလည်သည်ဆိုရာ၌ ဆွဲငင်ခြင်းအား ကို ထိန်းချုပ်ထားသည့် ရှောင်လွှဲမရခြင်း နိယာမကို သိသည့်အတိုင်းအတာမျှသာ နားလည်၏။ (ဥပမာအားဖြင့် ရုပ်ပစ္စည်း အားလုံး၌ အလေးချိန်ရှိသည်ဟုသာ ရှေးအယူ "အဆမှ နယူတန်၏ ဆွဲငင်ခြင်း နိယာမအထိလောက်ကို သာသိ၏။) အလားတူပင် ကျွန်ုပ်တို့သည် လွတ်လပ်သော စိတ်ကို ၎င်း၏ အလိုအလျောက် မြင်နိုင် ထင်နိုင်ခြင်း မရှိချေ။ လူက သိမှသာ မြင်နိုင်ထင်နိုင်ခြင်း ရှိ၏။ ကျွန်ုပ်တို့သည် လွတ်လပ်သော စိတ်ဆန္ဒကို သိမြင်သည် ဆိုရာ၌ ၎င်းကို ထိန်းချုပ်ထားသော ရှောင်လွှဲမရခြင်း နိယာမကို သိသည့်

အတိုင်းအတာမျှသာ သိမြင်၏။ (ဥပမာ လူတိုင်း သေရမည်ဟူသော သေခြင်း တရားမှသာ ရှုပ်ထွေး ဆန်းကြယ်သော စီးပွားရေးနှင့် ရာဇဝင်ဆိုင်ရာ နိယာမ တရားများအထိလောက်ကိုသာ သိ၏။) သို့ဖြစ်ရကား လူ၏ အသိဉာဏ်တရား ဟူသည် အခြားမဟုတ်။ ဘဝ၏အနှစ်သာရဟူသော လွတ်လပ်ခြင်း ကို ဆင်ခြင်တုံတရား၏ နိယာမများ၏ တိုင်းထွာကြည့်ရှု တတ်ခြင်းသာ ဖြစ်လေ သည်။

လူသည် လွတ်လပ်သောစိတ်ဆန္ဒကို တိုက်ရိုက် နားလည်၏။ သို့ရာတွင် အခြားသော အင်အားစုများကို ကား လူသည် တိုက်ရိုက်နားလည်ခြင်း မဟုတ်ချေ။ ( တစ်ဆင့် နားလည်ရခြင်း ဖြစ်၏။ ဤသည်ပင်လျှင် လူ၏ လွတ်လပ်သော စိတ် ဆန္ဒနှင့် အခြားသော အင်အား စုများ၏ ခြားနားချက် ဖြစ်လေသည်။ သို့ရာတွင် ဆင်ခြင်တုံတရား၏ အမြင်၌ကား လူ၏ လွတ်လပ်သော စိတ်ဆန္ဒသည်လည်း အခြားသော အင်အားစုများနှင့် အတူတူသာ ဖြစ်လေသည်။ ဆွဲငင်ခြင်းအား၊ လျှပ်စစ် အား၊ ဓာတ်အားများ ပေါင်းစပ်ခြင်းအားစသည့် အင်အား စုဟူသမျှသည် အားလုံးအတူတူသာ ဖြစ်၏။ ပရမတ်သာ ဖြစ်၏။ ၎င်းတို့ကို ဆင်ခြင်တုံတရားက ပညတ် ပြုထားခြင်းသာ ဖြစ်၏။ အလားတူပင် အဆိုပါအင်အားစု များနှင့် လွတ်လပ်သော စိတ်ဆန္ဒသည်လည်း အတူတူပင် ဖြစ်၏ ။ ပရမတ်သာ ဖြစ်၏။ ၎င်း၏ ဆင်ခြင်တုံတရား က ခွဲခြား၍ အမည်တစ်မျိုး ခေါ်ဆိုထားခြင်းသာ ဖြစ်လေ သည်။ လွတ်လပ်ခြင်းသည် လိုအပ်ခြင်း မရှိတော့သည်နှင့် တစ်ပြိုင်နက် (ဝါ) ၎င်း ကို အဓိပ္ပာယ်ဖွင့်ဆိုထားသည့် ဆင်ခြင်တုံ တရား၏ နိယာမများ မရှိတော့သည်နှင့် တစ်ပြိုင်နက် ၎င်းသည် ဆွဲငင်ခြင်း၊ အပူ စသည့် သဘာဝ အင်အားစုများနှင့် ဘာမှ ကွဲပြားခြားနားတော့မည် မဟုတ်ချေ။ ဆင်ခြင်တုံတရား၏ အမြင်၌ လွတ်လပ် ခြင်း ဟူသည် အခြားမဟုတ်။ ဘဝ၏ ဖော်ပြခြင်းငှာ မစွမ်းနိုင် သော တဒ်အာရုံမျှ သာ ဖြစ်လေသည်။

နေ၊ လ၊ ကြယ်၊ နက္ခတ်၊ တာရာများကို လှည့် ပတ်နေသောအား၏ မူလအစ သည် အဘယ်နည်း။ အပူ၊ လျှပ်စစ်ဓာတ်၊ ဓာတ်ပေါင်း စသည့်အားများများ၏) မူလအစသည် အဘယ်နည်း။ ဤပြဿနာသည် နက္ခတ္တ ဗေဒ၊ ရူပဗေဒ၊ ဓာတုဗေဒ၊ ရုက္ခဗေဒ၊ ပါဏဗေဒ စသည့် သိပ္ပံပညာရပ်အသီးသီးတို့၏ ပြဿနာ ဖြစ်၏။ အလားတူပင် လွတ်လပ်သော စိတ်ဆန္ဒ၏အားဟူ၍ အဘယ်နည်း။ ၎င်း၏ မူလအစသည် အဘယ်နည်း။ ဤပြဿနာသည် ရာဇဝင် သိပ္ပံပညာ၏ ပြဿနာ ဖြစ်ပေ သည်။ သို့ရာတွင် ကျွန်ုပ်တို့မသိသေးသော ဘဝအနှစ်သာ ရ၏ ထင်ဟပ် ချက်၊ ကိုယ်စားပြုချက်များသည် သိပ္ပံပညာ - ရပ်များက လေ့လာရမည့် အကြောင်းအရာများဖြစ်၍ ထိုထင်ဟပ်ချက်များ၏ မူလ ပစ္စည်းရဖစ်သော ဘဝ၏ အနှစ်သာရကား အဘိဓမ္မာကို လေ့လာရမည့်ကိစ္စသာ ဖြစ်လေသည်။ ထိုနည်းတူ ပင် ဟင်းလင်းပြင်သဘော၊အချိန် ကာလသဘော၊ အကြောင်းတရားကို အမဟိပြု သော သဘောတို့ဖြင့် ဖော်ပြသော လူ၏ လွတ်လပ်သော စိတ်ဆန္ဒ၏ ထင်ဟပ် ချက်၊ ကိုယ်စားပြုချက်များသည် ရာဇဝင်က လေ့လာရမည့် အကြောင်းအရာများ ဖြစ်၍ ထိုထင်မြင်ချက်၊ ကိုယ်စားပြုချက်များ၏ မူလပစ္စည်း ဖြစ်သော လွတ်လပ် သော စိတ်ဆန္ဒကား အဘိဓမ္မာက လေ့လာရမည့်ကိစ္စသာ ဖြစ်လေသည်။

လက်တွေ့ သိပ္ပံပညာရပ်များ၌ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့သိသောအရာများ ကို ရှောင်လွှဲမရခြင်း နိယာမ တရားများဟု ခေါ်ဆိုလိုက်ကြ၏။ ကျွန်ုပ်တို့ မသိ သော အရာများကိုကား ရှင်သန်ခြင်းအားဟု ခေါ်ဆိုကြလေသည်။ ရှင်သန်ခြင်း အားဟူသည် ဘဝ၏ အနှစ်သာရနှင့်ပတ်သက် ၍ ကျွန်ုပ်တို့မသိဘဲ ကြွင်းကျန်နေ သော အစိတ်အပိုင်းကို ခေါ်ဆိုထားသော ပညာတစ်ခုသာ ဖြစ်လေသည်။

အလားတူပင် ရာဇဝင် သိပ္ပံပညာ၌လည်း ကျွန်ုပ်တို့ ကျွန်ုပ်တို့သိသောအရာ များကို ရှောင်လွှဲမရခြင်း နိယာမဟု ခေါ်ဆိုလိုက်ကြ၏။ ကျွန်ုပ်တို့ မသိသော အရာ

များကိုမူ ကား လွတ်လပ်သော စိတ်ဆန္ဒဟူ၍ သိမ်းကျုံးခေါ်ဆို လိုက်ကြလေ
သည်။ ရာဇဝင်အဖို့ လွတ်လပ်သော စိတ်ဆန္ဒ ဟူသည် လူ့ဘဝကြီး၏
နိယာမတရားများနှင့် ပတ်သက် ၍ ကျွန်ုပ်တို့မသိဘဲ ကြွင်းကျန်နေသော
အစိတ်အပိုင်းကို ခေါ်ဆိုထားသော ပညတ်တစ်ခုသာလျှင် ဖြစ်ပေသတည်း။

# အခန်း ၁၁

ရာဇဝင်သည် လူ၏ လွတ်လပ်သော စိတ်ဆန္ဒ၏ ထင်ဟပ် ချက်များကို ပြင်ပကမ္ဘာလောက၊ အချိန်၊ အကြောင်းတရား စသည်တို့ဖြင့် ဆက်စပ်၍ စစ်ဆေးခြင်းပြု၏။ တစ်နည်း ကား ရာဇဝင်သည် ဆင်ခြင်တုံတရား၏ နိယာမ တရား များဖြင့် လွတ်လပ်ခြင်းကို ဖော်ပြခြင်းပြု၏။ ထို့ကြောင့် ဤလွတ်လပ်သောစိတ်ဆန္ဒကို ထိုနိယာမတရားများဖြင့် လေ့လာဖော်ပြခြင်းပြုသည့်အတိုင်းအတာအထိ ရာဇဝင်သည် သိပ္ပံပညာရပ်တစ်ခု၏ အသွင်လက္ခဏာကို ဆောင် ၏။

ကောင်းကင်၌ နေ၊ လ၊ ကြယ်၊ တာရာ၊ နက္ခတ် တို့ကို လှုပ်ရှားစေသောအရာမှာ လွတ်လပ်သော၊ အမှီခို ကင်းမဲ့သော အင်အားစုတစ်စု ဖြစ်သည်ဟု နက္ခတ္တဗေဒက ယူဆ၏။ အလားတူပင် ရာဇဝင် အဖြစ်အပျက်များကို ဖြစ်ပေါ်စေသော အရာသည် လူ၏ လွတ်လပ်သော၊အမှီခို ကင်းမဲ့သော စိတ်ဆန္ဒဖြစ်သည်ဟု ရာဇဝင်က ယူဆလေ သည်။ တစ်နည်းကား ၎င်းတို့သည် နိယာမတရားများ၏ လက်အောက်ခံမဟုတ်၍ဟု ယူဆလေသည်။

ဤသို့ယူဆလျှင် နိယာမတရားများ မရှိဟု ဆိုရာ ရောက်ပေသည်။ (ဝါ) သိပ္ပံပညာ မရှိဟု ဆိုရာရောက်ပေ သည်။ စကြဝဠာကြီးထဲ၌ လွတ်လပ်စွာ အလိုအလျောက် လှုပ်ရှားနေသော အရာရှိသည်ဆိုသည်နှင့် တစ်ပြိုင်နက် (တစ်ခုတည်းပင် ရှိသည်ထားဦး။) ကက်ပလာနှင့် နယူတန် တို့ တွေ့ရှိထားသည့်

နိယာမတရားများကို ငြင်းဆိုရာ ရောက်ပေသည်။ သို့ဖြစ်လျှင် ကောင်းကင်တွင် နေ၊ လ၊ နက္ခတ်၊ တာရာ စသည်တို့ လှည့်ပတ်သွားလာနေသည် ဟူသော အယူအဆ သည်လည်း ရှိနိုင်တော့မည် မဟုတ်ချေ။ ” အလားတူပင် လူ့လောက၌ လူ၏ လုပ်ဆောင်ချက်တစ်ခု သည် စိတ်အလိုဆန္ဒအလျောက် လွတ်လပ်စွာ ပေါ်ပေါက် လာခြင်းဖြစ်သည်ဆိုလျှင် လောက၌ ရာဇဝင်ဆိုင်ရာ နိယာမတရားဟူ၍လည်း တစ်ခုမျှမရှိဟု ငြင်းဆိုရာ ရောက်ပေသည်။ သို့ဖြစ်လျှင် ရာဇဝင် အဖြစ်အပျက်များ နှင့် ပတ်သက်သော အယူအဆဟူ၍လည်း ရှိတော့မည် မဟုတ်ချေ။

ရာဇဝင်သည် လူ၏ စိတ်ဆန္ဒများကို မျဉ်းဖြောင့် များဖြင့် ပြပေသည်။ မျဉ်းဖြောင့်၏ တစ်ဖက်စွန်းသည် ( မသိကိန်းဖြစ်၍ အခြားအစွန်းတစ်ဖက်၌ကား လူ၏ စိတ်ဆန္ဒကို ပစ္စုပ္ပန်၌ သီးခြားတည်းဟူသော သိစိတ်သည် လဟာပြင်၊ အချိန်၊ အကြောင်းတရားတို့နှင့် ယှဉ်၍ ရွေ့လျား နေသည်ဟု ယူဆလေသည်။

ထိုသိစိတ်၏ ရွေ့လျားပြောင်းလဲခြင်းသည် ကျယ်  ပြန့်လာသည်နှင့်အမျှ ထို လှုပ်ရှားပြောင်းလဲခြင်း၏ နိယာမ တရားများသည်လည်း ထင်ရှားသည်ထက် ထင်ရှားလာ သည်ဟု ရာဇဝင်က ယူဆ၏။ ၎င်း၏ကိစ္စသည် ထိုသိစိတ် ၏ ရွေ့လျားပြောင်းလဲခြင်းနိယာမကို ရှာဖွေရန်နှင့် အဓိ ပ္ပာယ်ဖွင့်ဆိုရန် ဖြစ်သည် ဟု ရာဇဝင်က ယူဆလေသည်။

ရာဇဝင်သိပ္ပံပညာ၏ လက်ရှိရှုထောင့်အရဆိုလျှင် ရာဇဝင်အဖြစ်အပျက်များ ပေါ်ပေါက်လာရခြင်းသည် လူ၏ အလိုအလျောက် ပေါ်ပေါက်လာသော စိတ်ဆန္ဒ ကြောင့် ဖြစ်သည်ဟု ယူဆ၏။ သို့ဖြစ်လျှင် ကျွန်ုပ်တို့ သည် ထိုရာဇဝင် နိယာမတရားများကို သိပ္ပံနည်းကျစွာ မည်သို့ ဖော်ပြခြင်းပြုနိုင်တော့မည်နည်း။ လူ၏ စိတ်ဆန္ဒ သည် လောက နိယာမတရားများကို နာခံသော အရာ မဟုတ်။ အလိုအလျောက်ပေါ်ပေါက်လာသော အရာ၊ လွတ်လပ်စွာ ပေါ်ပေါက်လာသော

အရာဟု ဆိုသည်နှင့် တစ်ပြိုင်နက် လောကနိယာမတရားများဟူ၍ မရှိနိုင်တော့ ရာဇဝင်အဖြစ်အပျက်များသည် လွတ်လပ်သော စိတ်ဆန္ဒအရကြောင့် ဖြစ်သည်ဆို လငြင် ကျွန်ုပ်တို့သည် ထိုလွတ်လပ်သော စိတ်ဆန္ဒသည် မည်သည့်အကြောင်း ကြောင့် ဖြစ်ပေါ်လာသနည်းဟု ဆက်၍ ရှာဖွေနေကြလိမ့်ဦး မည် ဖြစ်ပေသည်။ သို့ဆက်လက်ရှာဖွေခြင်း မပြုနိုင်ဘဲ တစ်ခါတည်း "ကိစ္စပြတ်"အောင် လုပ်ရန်မှာ ရာဇဝင်အဖို့ တစ်လမ်းသာ ရှိလေသည်။ ဤသည်မှာ အခြားမဟုတ်။ လွတ်လပ် သော စိတ်ဆန္ဒ၏ ပမာဏကို အဆုံးမရှိ သေး ငယ်သော ပမာဏသို့ ရောက်အောင် ပြောင်းလဲဖြစ်ပေ လိမ့်မည်။ သို့မှသာ ကျွန်ုပ်တို့သည် အကြောင်းတရားများ ကို ရှာဖွေခြင်းမပြုတော့ဘဲ နိယာမများအား ရှာဖွေခြင်းကို ပြုလုပ်လာလိမ့်မည် ဖြစ် ပေသည်။ . ။

ထိုနိယာမတရားများကို လူတို့သည် ပဝေသဏီ ကတည်းကပင် ရှာဖွေခဲ့ ကြ၏။ ရာဇဝင်သိပ္ပံပညာက လက်ခံရမည့်အတွေးအခေါ်များသည်လည်း ပေါ်ပေါက်လာ ခဲ့ကြ၏။ သို့ရာတွင် ၎င်းအတွေးအခေါ်သစ်များသည်လည်း အကြောင်းတရားများကို ထပ်၍ထပ်၍ ဆင့်၍ဆင့်၍ ခွဲခြမ်းစိတ်ဖြာ ရှာဖွေခြင်းဖြင့် နောက်ဆုံး၌ ရာဇဝင်၏ နည်းလမ်းဟောင်းသွားရာလမ်းဖြစ်သည့် ပျက်စီးပြိုကွဲ ခြင်း လမ်းကြောင်းသို့ လိုက်ပါလျက် ရှိကြလေသည်။ လူ့လောက၏ သိပ္ပံပညာ ရပ်များ အားလုံးသည် ဤသို့ဖြင့် နောက်ဆုံး၌ လမ်းဟောင်းသို့ ပြန်၍ တစ်ပတ် လည်လာကြခြင်းကိုသာ တွေ့ရပေသည်။ သိပ္ပံပညာရပ်များ အနက် အတိကျဆုံး ဖြစ်သော သင်္ချာပညာရပ်သည် အဆုံး မရှိ ပမာဏသေးငယ်သော ကိန်းကို တွေ့ရှိသည်၌ ကိန်း ခွဲခြင်းနည်းကို စွန့်ကာ မသိကိန်းများ အဆုံးမရှိ သေးငယ် သောကိန်းများ ပေါင်းခြင်းနည်းကို လိုက်ခဲ့၏။ သင်္ချာပညာ သည် အကြောင်းတရားရှိသည်ဟူသော အယူအဆကို စွန့်ကာနိယာမတရားကို ရှာဖွေ

ခဲ့၏။ (ဝါ) မသိသော၊ အဆုံးမရှိပမာဏ သေးငယ်သော ကိန်းများအားလုံး၏ တူညီသောဂုဏ်သတ္တိကို ရှာခဲ့၏။

အခြားသော သိပ္ပံပညာရပ်များသည် ထိုလမ်းကို လုက်ခဲ့ကြသည်သာ ဖြစ်လေသည်။ ပုံစံအားဖြင့်သာ ကွာခြား၍ သဘောမှာ အတူတူပင် ဖြစ်လေသည်။ နယူ တန်သည် ဆွဲငင်ခြင်း နိယာမကို စတင်တွေ့ရှိသောအခါ ၌ နေတွင်လည်းကောင်း၊ မြေကြီးတွင်လည်းကောင်း ဆွဲ ငင်ခြင်း သတ္တိ အသီးသီးရှိကြသည်ဟုသာပြောခဲ့လေသည်။ တစ်နည်းကား နယူတန်သည် ရုပ်ဝတ္ထုများ မည်သည့်' အတွက် လှုပ်ရှားပြောင်းလဲသည်ဆိုသည့် ပြဿနာကို ရှာဖွေရှင်းလင်းခြင်း မပြုခဲ့ချေ။ အဆုံးမရှိ ကြီးမားသော အရာဝတ္ထုနှင့် အဆုံးမရှိ သေးငယ်သော အရာဝတ္ထုအားလုံး တို့၌ ဆွဲငင်ခြင်းဟူသော တူညီသည့် ဂုဏ်သတ္တိများ ရှိသည်ဟုသာ ပြောခဲ့ခြင်း ဖြစ်လေသည်။ သဘာဝ သိပ္ပံ ပညာသည်လည်း အလားတူပင် ဖြစ်ပေသည်။ ၎င်းတို့သည် အကြောင်းတရားကို ရှာဖွေခြင်း မပြုဘဲ နိယာမများကို သာ ရှာဖွေခဲ့ကြပေသည်။ ရာဇဝင် သိပ္ပံပညာသည်လည်း ထိုနည်းလည်းကောင်းသာ ဖြစ်လေသည်။ ရာဇဝင်သိပ္ပံ ပညာသည် ဝိသေသထူးသော ပုဂ္ဂိုလ်များ၏ သက်တမ်း၌ ဖြစ်ပေါ်ခဲ့သော အဖြစ်အပျက်များကို ရေးသားခြင်း မပြုဘဲ လူမျိုးနှင့် လူလောက၊ လူအနွယ်ကြီး၏ လှုပ်ရှားမှုကိုသာ လေ့လာဖော်ပြခြင်း ပြုမည်ဆိုပါက ၎င်းသည်လည်း (အကြောင်းတရားတို့ကိုဘေးဖယ်ကာ) အပြန်အလှန် ဆက်စပ်လျက်ရှိသော စိတ်ဆန္ဒ အဆုံးမရှိ သေးငယ်သော အစိတ်အပိုင်းကလေးများအားလုံး၏ တူညီသော နိယာမ များကို ရှာဖွေရလိမ့်မည်သာ ဖြစ်လေသည်။ (ဝါ) ရာဇဝင် အဖြစ်အပျက်တစ်ခု၌ အသေးငယ်ဆုံးသော  အစိတ်အပိုင်းကလေးများဖြစ်သည့် သာမန်ပြည်သူများ၏ စိတ်ဆန္ဒများကို ဖော်ပြရပေလိမ့်မည်။

# အခန်း ၁၂

ကိုပါနီကတ်က စကြာဝဠာ၏ နိယာမကို စတင်တွေ့ရှိ ကာ သက်သေထုတ်ပြခဲ့ပြီးသည်နောက်၌ နေက ကမ္ဘာကြီး ကို လှည့်ပတ်သွားလာခြင်း မဟုတ်မူ၍ ကမ္ဘာမြေကြီးကသာ နေလို လှည့်ပတ်သွားလာနေခြင်း ဖြစ်ကြောင်း သိလာခဲ့ကြ၏။ ထိုအယူအဆသည် ရှေးပညာရှင်တို့၏ အာကာသ ဗေဒပညာရပ်များကို တော်လှန် ဖျက်ဆီးပစ်လိုက်ပေသည်။ ကိုပါနီကတ်၏ အယူအဆကို လက်ခံလျှင် ရှေးဟောင်း အယူအဆကို ငြင်းပယ်ရလိမ့်မည်။ ရှေးအယူအဆကို လက်ခံလျှင် ကိုပါနီကတ်၏ အယူအဆကို ငြင်းပယ်ရလိမ့် မည်ဟု ထင်စရာရှိ၏။ သို့ရာတွင် ကိုပါနီကတ်၏ နိယာမကို လက်ခံပြီးသည့်နောက်၌လည်း ရှေးအယူအဆ များကို ဆက်၍ လက်ခံနေကြရဆဲ စူးစမ်းနေကြဆဲ ဖြစ် သည်ကို တွေ့ရလေသည်။ . ထိုနည်းတူ မွေးဖွားမှုနှင့် ရာဇဝင်မှု အရေအတွက် သည် သင်္ချာနိယာမတရားများ၊ လက်အောက်ခံဖြစ်သည်ဟု လည်းကောင်း၊ အစိုးရအုပ်ချုပ်ရေး စနစ်တစ်ခုကို တစ်စုံ တစ်ခုသော ပထဝီအနေအထားနှင့် စီးပွားရေးအခြေအနေ များက ဆုံးဖြတ်သည်ဟု လည်းကောင်း၊ လူဦးရေနှင့် မြေသြဇာခေတ်တို့၏ အချိုးအစား မညီမှုကြောင့် လူများ အစုလိုက် အအုံလိုက် ပြောင်းရွှေ့ရခြင်းဖြစ်သည်ဟုလည်းကောင်း ရာဇဝင်ပညာရှင်အမျိုးမျိုးက ရာဇဝင်သဘော တရား အမျိုးမျိုးကို ပြောဆိုခဲ့ကြ၏။ ထိုသဘောတရားများ ၌ အဖြစ်အပျက်သည် လူ၏ လွတ်လပ်သော စိတ်ဆန္ဒ ကြောင့် ပေါ်ပေါက်ခဲ့ရခြင်း ဖြစ်သည်ဟူသော ရှေးဟောင်း အယူအဆကို တော်လှန်ခဲ့လေသည်။

ရှေးဟောင်း ရာဇဝင်၏ သဘောတရားကို ဆက် လက်၍ လက်ခံကြလိုသေးလျှင် အဆိုပါနိယာမသစ်များ ကို ငြင်းဆိုမှ ဖြစ်မည်ဟု ထင်ရ၏။ အဆိုပါ အယူအဆသစ်များကိုလက်ခံလျှင် အဖြစ်အပျက်တို့သည် လွတ် လပ်သော စိတ်ဆန္ဒ

ကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်သည် ဟူသော ရှေးဟောင်း ရာဇဝင် သဘောတရားကို ဆက်လက် လေ့လာခြင်းပြုရန် မလိုတော့သည်ဟု ထင်မှတ်ရလေသည်။ အစိုးရအုပ်ချုပ်ရေးစနစ်တစ်ခု၊ သို့မဟုတ် လူများ အစုလိုက် အအုံလိုက် ပြောင်းရွှေ့ သော အဖြစ်အပျက်တစ်ခု ထိုထို ဤဤသော ပထဝီ အနေအထား စီးပွားရေးအခြေအနေ၊ မြေဩဇာထက်သန်ခြင်း ရှိ၊ မရှိစသည့် အကြောင်းတရား များကြောင့် ပေါ်ထွက်လာခြင်းဖြစ်သည်ဆိုလျှင် အစိုးရ အုပ်ချုပ်ရေး စနစ်တစ်မျိုးကို တည်ထောင်သူ၊ သို့မဟုတ် အဖြစ်အပျက်တစ်ခုကို ပေါ်ပေါက်စေသူဟု ကျွန်ုပ်တို့ထင်ခဲ့ သော လဦး ပုဂ္ဂိုလ်တို့၏လွတ်လပ်သော စိတ်ဆန္ဒသည် ထိုအဖြစ်အပျက်၊ ထိုအုပ်ချုပ်ရေးစနစ်တို့ ပေါ်ပေါက်စေ သော အကြောင်းတရားဖြစ်သည်ကို ယူဆ၍ မဖြစ်နိုင်ချေ။

သို့သော်လည်း ကျွန်ုပ်တို့သည် စာရင်းအင်း ဗေဒ၏ နိယာမများ၊ ပထဝီ၏ နိယာမများ နိုင်ငံရေး ဘောဂဗေဒ၏ နိယာမ၊ ဘာသာဝေါဟာရဗေဒ၏ နိယာမများ၊ ဘူမိဗေဒ ၏ နိယာမများနှင့်အတူ လွတ်လပ်သော စိတ်ဆန္ဒရှိသည် ဟုဆိုသော ရှေးဟောင်းရာဇဝင်သဘောတရားကိုလည်း ယခုတိုင် ဆက်လက်လေ့လာနေရဆဲပင် ဖြစ်လေသည်။ လက်ခံနေကြဆဲပင် ဖြစ်လေသည်။

ရုပ်ဝါဒပိုင်းဆိုင်ရာ အဘိဓမ္မာ၏ နယ်ပယ်၌ ရှုမြင် ချက်အဟောင်းနှင့် အသစ်တို့၏ တိုက်ပွဲသည် ရှည်လျား ပြင်းထန်စွာ ဖြစ်ပေါ်ခဲ့၏။ ဘာသာတရားသည် ရှုမြင်ချက် အဟောင်းကို ကာကွယ်ကာ ရှုမြင်ချက်အသစ်ကို တိုက် ခိုက်၏။ ရှုမြင်ချက်အသစ်သည် ဘုရားသခင်၏ ဉာဏ် အလင်းရောင်ကို ဖြိုခွင်းသည်ဟု စွဲချက်တင်၏။ သို့ရာတွင် အမှန်တရားကို တွေ့လာသောအခါ၌ကား ဘာသာတရား ကသာလျှင် အောင်နိုင်ခဲ့၍ အခြေခံသစ်ပေါ်တွင် ခိုင်ခံ့စွာ ရပ်တည်ခဲ့လေသည်။

အလားတူပင် ရာဇဝင်သိပ္ပံပညာ၏ နယ်ပယ်၌ လည်း ရှုမြင်ချက် အဟောင်း နှင့် အသစ်တို့သည် ယခု ထက်တိုင် ပြင်းထန်ရှည်ကြာစွာ တိုက်ပွဲဖြစ်ပွားလျက် ရှိ၏။ ထိုအခါ၌ ဘာသာတရားသည် ရှေးနည်းတူ ရှုမြင်ချက် အဟောင်းကို ကာကွယ်ကာ ရှုမြင်ချက်အသစ်သည် ဘုရား သခင်၏ ဉာဏ်အလင်းရောင်ကို မှေးမိန်စေသည်ဟု စွဲ ချက်တင်၏။

ထိုတိုက်ပွဲနှစ်ရပ်စလုံး၌ နှစ်ဖက်စလုံးသည် ဒေါသ ဖြင့် မွန်ကာ အမှန်တရားကို မမြင်နိုင်အောင် ဖြစ်လျက် ရှိကြ၏။ အင်အားစုဟောင်းသည် နှစ်ပေါင်းများစွာတည် ဆောက်ခဲ့သော အဆောက်အအုံကြီး ပြိုကွဲ ပျက်စီးခဲ့ခြင်း ကြောင့် ဝမ်းနည်း၍မဆုံး၊ ဒေါသထွက်၍ မဆုံး တသ၍ မဆုံးဖြစ်လျက်ရှိ၏။ အင်အားစုသစ်သည် အဟောင်းကို ဖျက်ဆီးလိုစိတ်ဖြင့် မွန်ထလျက်ရှိ၏။

ရုပ်အဘိဓမ္မာ၏ သစ္စာတရားသစ်များကို တိုက်ခိုက် လျက်ရှိသော အင်အားစုဟောင်း၏ အမြင်၌ အသစ်တွေ့ရှိ သော သစ္စာတရားတို့ကို လက်ခံလိုက်ပါက ဘုရားသခင်၌ ယုံကြည်ခြင်း ဘုရားသခင်၏ ဖန်ဆင်းမှု၌ ယုံကြည်ခြင်း တို့သည် ပျက်စီးခြင်းသို့ ရောက်ရချေတော့မည်ဟု ထင်မှတ် လျက် ရှိကြ၏။ ကိုပါနီကတ်နှင့် နယူတန်တို့၏ နိယာမ တရားများကို ကာကွယ်သော အင်အားစုသစ်များ၏ အမြင်၌ကား (ဗောလတ်ယား စသူတို့ဖြစ်သည်။) နောက် ထပ် တွေ့ရှိသော နက္ခတ္တဗေဒ နိယာမများသည် ဘာသာ တရားကို အပြီးအပိုင် ရှင်းလင်း သုတ်သင်ပစ်သည်ဟု ထင်မှတ်လျက်ရှိ၏။ ထို့ကြောင့် ၎င်းတို့သည် ဘာသာ တရားကို တိုက်ခိုက်ရာ၌ ဆွဲငင်ခြင်း နိယာမကို လက် နက်သဖွယ် အသုံးချလျက် ရှိကြလေသည်။

ရှောင်လွှဲမရခြင်း နိယာမတရားကို လက်ခံလျှင် ဝိဥာဉ်ဟူသော အယူအဆ အကောင်းနှင့်အဆိုးဟူသော အယူအဆနှင့်တကွ ထိုအယူအဆများပေါ်တွင် တည်

ဆောက်ထားသော နိုင်ငံအစိုးရနှင့် သာသနာ အဆောက် အအုံဟောင်းများကို ဖျက်ဆီးရာရောက်သည်ဟု ထင်မှတ် ကြလေသည်။ ' အလားတူပင် ယခုခေတ်၌ ရှောင်လွှဲမရခြင်း နိယာမ တရားကို စေတနာ့ဝန်ထမ်း ရှေ့နေလိုက်ပေးနေကြသူ တို့ သည်လည်း (ထိုခေတ်က ဗောလတ်ယား စသူတို့ကဲ့သို့) ထိုနိယာမတရားကို တိုက်ခိုက်လျက် ရှိကြလေသည်။ သို့သော်လည်း နက္ခတ္တဗေဒပညာ၌ ကိုပါနီ ကတ်၏ နိယာ မသည် ဘာသာတရားကို ချေဖျက်ခြင်း မပြုရုံမျှမက နိုင်ငံအစိုးရ နှင့် သာသနာ့အဆောက်အအုံတို့ အုတ်မြစ်ချ ရာ ဘာသာတရားတည်းဟူသော အခြေခံများကို ခိုင်မြဲ အောင် လုပ်ပေးခဲ့သည့်နည်းတူ ရာဇဝင်သိပ္ပံပညာ၌လည်း ရှောင်လွှဲမရခြင်းနိယာမသည် ဘာသာရေးအခြေခံဟောင်း ကို ချေဖျက်ခြင်း မပြု နိုင်ရုံမျှမက ခိုင်မြဲသည်ထက် ခိုင်မြဲအောင် လုပ်ပေးလျက် ရှိလေသည်။ ကိုပါနီ ကတ်တို့ခေတ်တွင် နက္ခတ္တဗေဒပညာ၌ အယူအဆ ကွဲလွဲချက်မှာ အခြား မဟုတ်။ ကျွန်ုပ်တို့ ထိတွေ့သိမြင်ရသော ဩကာသ လောကကြီးကို မောင်းနှင် လှုပ်ရှားစေသူမှာ အကြွင်းမဲ့ဖြစ်သော၊ ထာဝရဖြစ်သော အရာ ဟုတ်မဟုတ်ဟူ သည့် ပြဿနာဖြစ်၏။ အလားတူ ပင် ကျွန်ုပ်တို့ခေတ် ရာဇဝင်သိပ္ပံပညာ၌ အငြင်းပွားလျက် ရှိသည့် ကိစ္စမှာလည်း အခြားမဟုတ်။ အဖြစ်အပျက်များ ကို ပေါ်ပေါက်စေသောအရာသည် ထာဝရဖြစ်သော အရာ၊ အကြွင်းမဲ့ဖြစ်သောအရာ ဟုတ် မဟုတ်ဆိုသည့် ပြဿနာပင် ဖြစ်လေသည်။ နက္ခဗေဒပညာ၌မူ ဩကာသ လောကကြီးကို လှုပ်ရှားစေသည့် အရာသည် ကမ္ဘာမြေကြီး ၏ လှုပ်ရှားစေသည့် အရာသည် ကမ္ဘာမြေကြီး၏ လှုပ်ရှား ခြင်း ဖြစ်သည်ဟု ယူဆ၏။ ရာဇဝင် သိပ္ပံပညာ၌ကား အဖြစ်အပျက်များကို ပေါ်ပေါက်စေသည့်အရာသည် လူ ပုဂ္ဂိုလ်၏ လွတ်လပ်ရခင်း (ဝါ) လူ၏ လွတ်လပ်သော စိတ်ဆန္ဒဖြစ်သည်ဟု ယူဆ လေသည်။

နက္ခဗေဒသည် ကမ္ဘာမြေကြီးသည် လည်ပတ်သွား သာလျက် ရှိသည် ဟူသော အယူအဆသစ်ကို လက်မခံနိုင် ကြသေးခြင်းမှာ ကမ္ဘာမြေကြီး၏ မလှုပ်မရှား ရပ်တည်နေ သည့်အဖြစ်နှင့် နေ၊ လ၊ ကြယ်၊ နက္ခတ် တာရာများ၏ လှုပ်ရှားသွားလာနေကြသည့်အဖြစ်ကို လက်ငင်းကြုံတွေ့နေ ခြင်းကြောင့် ဖြစ်လေသည်။ အလားတူပင် ရာဇဝင် သိပ္ပံ ပညာ၌လည်း လူသည် ဟင်းလင်းပြင်၊ အချိန်နှင့် အကြောင်းတရား စသည့် နိယာမတရားများ၏ လက် အောက်ခံ ဖြစ်သည်ဟူသော အယူအဆသစ်ကို လက်မခံနိုင် ကြသေးခြင်းမှာ မိမိတို့သည် လွတ်လပ်သည်၊ ပြုလိုရာကို ပြုနိုင်သည်ဟူသော ကိုယ်တွေ့ခံစားချက်ကို မစွန့်နိုင်သေး ခြင်းကြောင့်သာဖြစ်လေသည်။ သို့ရာတွင် နက္ခတ္တဗေဒ ပညာတွင် အယူအဆသစ်က စောဒကတတ်ရာ၌ "ကျွန်ုပ် တို့သည် ကမ္ဘာမြေကြီး၏ လှုပ်ရှားသွားလာခြင်းကို စမ်းသပ် ထိတွေ့၍မရသည်မှာ မှန်ပါသည်။ သို့ရာတွင် ဤသို့ စမ်းသပ်၍ မရခြင်းကြောင့် ကမ္ဘာမြေကြီးသည် လှုပ်ရှား ခြင်းမရှိ ရပ်တည်နေသည်ဟု ဆိုလျှင်ကား အဓိပ္ပာယ် ကင်းမဲ့ခြင်းအဖြစ်သို့ ရောက်လိမ့်မည် ဖြစ်ပါသည်။ ကမ္ဘာမြေကြီး၏ (ကျွန်ုပ်တို့ ထိတွေ့စမ်းသပ်၍ မရသော) လှုပ်ရှားခြင်းကို လက်ခံမှသာလျှင် နိယမများကို တွေ့ရှိ လိမ့်မည် ဖြစ်ပါသည်"ဟု ဆို၏။ အလားတူပင် ရာဇဝင် သိပ္ပံတွင်လည်း အယူအဆသစ်က စောဒက တက်ရာ၌ "ကျွန်ုပ်တို့သည် ပြင်ပကမ္ဘာလောကကြီးပေါ်တွင် မှီ၍ ရပ်တည်နေသော ကျွန်ုပ်တို့၏အဖြစ်ကို မသိဟုဆိုသည် - မှာ မှန်ပါသည်။ သို့ရာတွင် ဤသို့မသိခြင်းကြောင့် ကျွန်ုပ်တို့သည် အမှီခိုကင်းသည် ကျွန်ုပ်တို့၏ စိတ်သည် လွတ်လပ်သည်ဟု ဆိုလျှင်လား အဓိပ္ပာယ်ကင်းမဲ့ခြင်း အဖြစ်သို့သာ ရောက်လိမ့်မည်ဖြစ်ပါသည်။ ပြင်ပကမ္ဘာ လောကကြီးနှင့်တကွ အချိန်၊ အကြောင်းတရား စသည် တို့ကို မှီ၍တည်၍ ရပ်တည်လျက်ရှိသည်ဟု လက်ခံမှသာ လျှင် နိယာမများကို သိမြင်လိမ့်မည် ဖြစ်ပါသည်"ဟု ဆိုလေသည်။

သို့ဖြစ်ရကား ဤပြဿနာနှစ်ရပ်စလုံး၌ ကျွန်ုပ်တို့ ( ရွေးချယ်ရမည့်လမ်းမှာ တစ်လမ်းသာ ရှိပါသည်။ ၎င်းမှာ အခြားမဟုတ်။ နက္ခတ္တဗေဒပညာ၌ ဟင်းလင်းပြင်တွင် ပြောင်းလဲ လှုပ်ရှားခြင်း မရှိ၊ (ဝါ) ကမ္ဘာမြေကြီးသည် ပြောင်းလဲ လှုပ်ရှားခြင်း မရှိ တပ်တည်နေသည်ဟူသော တကယ်မဟုတ် သော်လည်း ဟုတ်သယောင် ထင်ရသည့် အယူအဆကို စွန့်လွှတ်၍ ဟင်းလင်းပြင် တွင် ပြောင်းလဲ လှုပ်ရှားခြင်းရှိသည် () ကမ္ဘာမြေကြီးသည် လည်ပတ် လှုပ်ရှား နေသည်ဟူသော `တကယ် ဟုတ်သော်လည်း မဟုတ်သယောင်ထင်ရသည့် အယူ အဆကို အသိအမှတ် ပြုရန် ဖြစ်၏။ အလားတူ ရာဇဝင်သိပ္ပံပညာ၌ လူတွင် လွတ်လပ်ခြင်းရှိသည်ဟူသော တကယ်မရှိသော်လည်း ရှိသယောင် ထင်ရသည့် အချက်ကို စွန့်လွှတ်၍ - လူ၌ လွတ်လပ်ခြင်းမရှိဟူသော တကယ်ရှိသော်လည်း မ ရှိသ ယောင်ထင်ရသည့်အချက်ကို အသိအမှတ်ပြုရန်သာ ဖြစ်ပါ သတည်း။

# မြန်မာပြန်သူ၏ နိဂုံးချုပ်တင်ပြချက်များ

## (၁)

၁၉၅၀ပြည့်နှစ် နွေဦး။

ကျောင်းပိတ်ချိန်ဖြစ်၍ တက္ကသိုလ်ပရဝဏ်တစ် ဝိုက်တွင် လူရှင်းနေသည်။ ခေါင်းလောင်းသံ၊ ရေမိုးခန်း မင်းသားတို့၏ သီချင်းဆိုသံ၊ လရောင်အောက်မှာ တရော သံ၊ စကြံတစ်လျှောက်တွင် ပွဲတင်ထပ်လေ့ရှိသော ခုံဖိနပ် သံ၊ မော်တော်ကား သံ၊ ကျောင်းသူချောချော ဖြတ်လျှောက် သွားသည်ကို မြင်လျှင် (မည် သည့်အတွက်ကြောင့်ဟူ၍ မသိ) "နွားနို့၊ နွားနို့"ဟူ၍ နွားနို့ကုလားကြီး အသံမျိုး ဖြင့် အော်လေ့ရှိကြသော ကျောင်းသားများ၏ အသံမျိုးဖြင့် စသည့်အသံပေါင်းစုံကို လည်း မကြားရတော့။

"ဝင်္ကပါလှည့်နေသောအသံ"ဟု ကဗျာဆရာတို့ တင်စားခေါ်ဝေါ်ကြသည့် ဥသြငှက်၏ အသံသာလျှင် တက္ကသိုလ် ပရဝဏ်ကို ကြီးစိုးလျက်ရှိသည်။ သစ်တိုပင်၊ မရန်းပင်၊ သရက်ပင်ကြီးများပေါ်တွင် ပြေးလွှားနေကြသော ရှဥ့်တို့၏ အသံသည် နွေတမန်ဥသြ၏တေးသံကို စည်း လိုက်လျက် ရှိကြသည်။

ကျွန်တော်သည် စကြံတွင် ပက်လက်ကုလားထိုင် ဆွဲထုတ်ကာ စာအုပ်တစ် အုပ် ဖတ်နေမိသည်။ တစ်ခါတစ်ရံ မျက်စိညောင်းလာလျှင် မျက်နှာကို စာအုပ်မှခွာ ကာ ရှေ့ မှ ရှုမျှော်ခင်းကို လှမ်းကြည့်မိသည်။ ။ . ကျွန်တော်တို့ ဥတ္တရကျောင်း ဆောင် (ယခု ရွှေဘိုဆောင်)မှ လှမ်းကြည့်လိုက်လျှင် ယုဒသန်ဘုရားရှိ ခိုး

ကျောင်းဆောင်မှ မျှော်စင်ကြီးကို လှမ်းမြင်ရသည်။ မြူခြေဆိုင်း၍ ဝေမှိုင်းလျက်ရှိသော ကောင်းကင်အောက် တွင် ယုဒသန်ဘုရားရှိခိုးကျောင်းဆောင်မှ မျှော်စင်သည် အထီးတည်းရပ်လျက် ရှိသည်။ ခါတိုင်းကဲ့သို့ အော်ဂင် နှင့် တီးမှုတ်သီဆိုကြသော ခရစ်ယာန် ဓမ္မသီချင်းသံကို  လည်း မကြားရတော့။ မျှော်စင်ရိပ်အောက်မှ ချစ်သူ မောင်မယ်များကိုလည်း မမြင်ရတော့။ သောတအာရုံတွင် အေးငြိမ်းလျက်။ စက္ခုအာရုံတွင် ရှင်းလင်းလျက်။

နီတစ်ဝက် မောင်းတစ်ဝက် ရွှေတစ်ဝက်၊ သစ်ရွက် တို့ ကြွေကျဆဲ။ ဥတ္တရကျောင်းဆောင်ရှေ့ရှိ စိမ်းစိုသော မြက်ပင်တို့ ခြောက်သယောင်းကြလေပြီ။ မြက်ပင်များပေါ် တွင် ရွက်ကြွေတို့ လိုက်တမ်းပြေးတမ်း ကစားနေကြသည်။

ကျွန်တော်နှင့် မလှမ်းကမ်း ခုတင်တစ်လုံးပေါ် တွင် မိုးဝေနှင့် တက္ကသိုလ်နန္ဒမိတ်တို့ အိပ်နေကြဆဲ။ (နောက်ခုတင်တစ်လုံးမှာ ဂီတနက်သန် စောညိန်း (ယခု ကွယ်လွန်ပြီ။) အိပ်လျက်။ နောက် ခုတင်တစ်လုံးတွင် စာရေးဆရာ မောင်ကြည်လင် (ယခု ကွယ်လွန်ပြီ။) အိပ်လျက်။ နောက်ခုတင်တစ်လုံးမှာ ဒဂုန်တာရာ။ သို့ရာ တွင် ဒဂုန်တာရာခုတင်မှာ မရှိတော့။ နံနက်စောစောထ၍ ၎င်းနေထိုင်ရာ ၁၄ လမ်းသို့ ပြန်သွားနှင့်ပြီ။

ကျွန်တော်တို့ နေထိုင်ရာ ဥတ္တရကျောင်းဆောင် တွင် မကြာခဏ ဆုံမိကြသည်။ မောင်ကြည်လင်၊ တက္က ( သိုလ် နန္ဒမိတ်၊ အောင်လင်း၊ အောင်စိုးနှင့် ကျွန်တော် တို့မှာ အိမ်သည်များ ဖြစ်သည်။ နွေကျောင်းပိတ် ဖြစ် . ( သော်လည်း ကျွန်တော်တို့ မပြန်ကြ။ ကျွန်တော်တို့ ရှိရာသို့ ကမာရွတ် ရှောက်ပင်ခြံတွင် နေသော သန်းဆွေ၊ ကမာရွတ် သုခလမ်းတွင်နေသော မိုးဝေ၊ ကြည့်မြင်တိုင်မှ ဂီတနက်သန် စောညိန်းစသူတို့ မကြာမကြာ ညအိပ်ညနေ ရောက်လာတတ်ကြသည်။

ထိုစဉ်က သန်းဆွေမှာ ရှုမဝ အယ်ဒီတာအဖွဲ့သို့ ရောက်နေပြီ။ မိုးဝေမှာ ၎င်း၏အလွတ်စုံထောက် တင်မောင် ဆွေကို စတင် မွေးထုတ်နေပြီ။ တက္ကသိုလ်နန္ဒမိတ်မှာ တိုးတက်ရေး သတင်းစာ အယ်ဒီတာစားပွဲတွင် ထိုင်နေလေ ပြီ။ ကျွန်တော်တို့ တစ်သိုက်ကား တာရာမဂ္ဂဇင်းတွင် ဝတ္ထုတိုများ စတင်ရေးကာ "စာပေသစ်" မဂ္ဂဇင်း စတင်ထုတ်ဝေနေလေပြီ။ ဂီတနက်သန်စောညိမ်းမှာ ဆန်း "သစ်၍ မြန်မာဆန်သော သီချင်းများကို ရေးဖွဲ့စပြုနေပြီ။

အောင်စိုးမှာ ၎င်း၏ဝတ္ထုတို ကလေးများမှာ တမာန်နဲ့ သင်းစပြုလေပြီ။

ခဏကြာလျှင် မောင်ကြည်လင် သွားပွတ်တံဖြင့် သွားတိုက်ရင်း ထလာသည်။ ၎င်း၏ပခုံးပေါ်တွင် တင်ထား သော မျက်နှာသုတ်ပဝါသည် လှုပ်ရှားလျက်ရှိ၏။

"ဟော့ကောင် ဘာတွေဖတ်နေတာလဲ။ စောစောစီး ၎င်းက ကျွန်တော့်ကို လှမ်းမေးလိုက်သည်။ ကျွန်တော်က စာအုပ်ကို လှမ်းပြလိုက်သည်။ ထိုစာအုပ်မှာ တော်လ်စတွိုင်း၏ "စစ်နှင့်ငြိမ်းချမ်းရေး "ဟော့ ... မင်း ဒီစာအုပ် ဘယ်က ရှာတွေ့တာလဲ"

မောင်ကြည်လင်က တအံ့တဩဖြင့် ကျွန်တော့် လက်ထဲမှ စာအုပ်ကို ယူကြည့်သည်။ စာအုပ်ကို တော်တော် စိတ်ဝင်စားနေဟန်လည်း ရှိသည်။ ။

"ကိုအောင်စိုးပြောလို့ မနေ့က အစည်းအဝေး အပြီးမှာ "ပြည်သူ့စာပေတိုက်"က ဆွဲလာတာဗျ။ စာအုပ် က လေးငါးအုပ်ပဲ ရှိတယ်" ။

ထိုစဉ်က ပြည်သူ့စာပေတိုက်တွင် "ပြည်သူ့စာပေ ကော်မီတီ"ဟု ကော်မီတီကလေးတစ်ခု ဖွဲ့ထားသည်။ "ပြည်သူ့စာပေတိုက်"သည် စာအုပ်ဖြန့်ချိရေးအပြင် ကိုယ် ပိုင် စာအုပ် ထုတ်ဝေရန်အတွက် စာအုပ်များ ရွေးချယ်ရန် အယ်ဒီတာအဖွဲ့

တစ်ဖွဲ့ကို ဖွဲ့ထားသည်။ အပြင်မှ နိုင်ငံ ရေး သမားများ၊ စာရေးဆရာကြီးများအပြင် ကျောင်းသား များထဲမှ မောင်ကြည်လင်၊ မောင်မောင်ကျော် (ယခု လွှတ်တော် ရှေ့နေကြီး ဒေါက်တာမောင်မောင်ကျော်) နှင့် ကျွန်တော်တို့ ပါကြသည်။ ကျွန်တော်တို့သည် ထိုကော်မတီ တွင် အစည်းအဝေး တစ်ခါနှစ်ခါ ထိုင် သော်လည်း နောင်တွင် မည်သည့်အကြောင်းကြောင့် မသိ) အစည်း အဝေး မထိုင် ဖြစ်တော့။ ဆိုရှယ်လစ်ဝါတီ နှစ်ခြမ်းကွဲသွား သောအခါ ပြည်သူ့စာပေကော်မတီ တွင် ကျွန်တော်တို့ လည်း မရှိတော့ပေ။

"ဒီဝတ္ထုကတော့ ကမ္ဘာမှာ နာမည်အကြီးဆုံး အရှည်လျားဆုံး ဝတ္ထုပဲကွ။ ဘာသာပြန်ရရင် ကောင်းမှာ မောင်ကြည်လင်က တိုက်တွန်းသည်။ ထိုအချိန် က ကျွန်တော်သည် ဂေါ်ကီ၏ ဝတ္ထုတိုကလေးများကို ဘာသာပြန်၍ ဂေ လင်းစာပေမှ ထုတ်ဝေခဲ့ပြီး ဖြစ်သည်။

"စာအုပ်က ကြီးလှေ့ရတယ်ဗျ။ ခက်လဲ ခက်တယ်။ ကျွန်တော် တစ်ယောက်တည်း ပြ င့် ပြန်ဖို့ဆိုတာ အချိန် အတော်ယူရလိမ့်မယ်။ ပြီးတော့" **

"မင်းတစ်ယောက်တည်း မပြီးရင် တို့နှစ်ယော.. ပြန်မယ်ကွာ။ မင်းတစ်ဝက် ငါတစ်ဝက်"

"ဒါကတော့ ဟုတ်ပါပြီ။ ဒါပေမဲ့ ကျွန်တော်က တော်လ်စတွိုင်းကိုဂေါ်ကီ လောက် အရသာ မတွေ့ဘူးဗျ။ တော်လ်စတွိုင်းဟာ တကယ်တော်တဲ့ အနုပညာ ရှင်ကြီးပါ ပဲ။ သူ့ဝတ္ထုတွေဟာလဲ ဝတ္ထုတွေအနေနဲ့ အင်မတန် ကောင်းတဲ့ ဝတ္ထု တွေပါပဲ။ ဒါပေမဲ့ ကျွန်တော်က တော်လ် စတွိုင်းရဲ့ အဘိဓမ္မာကို မကြိုက်ဘူး။ "မကောင်းမှုကို မခုခံနှင့်"ဆိုတဲ့ သူ့တရားတွေ၊ "အဟံသဆိုတဲ့ အကြမ်း မဖက် ရေး" တရားတွေ။ ဒါတွေကိုတော့ ကျွန်တော် သိပ်သဘောမကျဘူး။ နိုွ္ဌသံ ပါ

လွန်းတယ်လို့ ကျွန်တော် ထင်တယ်။ ကျွန်တော် တော်လ်စတွိုင်းရဲ့ စာတွေကို တော့ များများမဖတ်ဖူးသေးပါဘူး။ နည်းနည်းပါးပါးပဲ ရှိပါသေးတယ်”။

(၂)

ကျွန်တော်တို့ ဥပစာတန်းတုန်းက တော်လ်စတွိုင်း ၏ဝတ္ထုတိုများကို သင်ခဲ့ရသည်။ စစ်မဖြစ်မီက စာရေး ဆရာမကြီး ဒဂုန်ခင်ခင်လေး “မိုးဒေဝါ” အမည်ဖြင့် ရေးခဲ့ဖူး သော တော်လတွိုင်း၏ “ကရုဇာ-ဆိုနာတာ” ဝတ္ထုကြီးကို မကြာသေးမီက ပင် ဖတ်ခဲ့ရသေးသည်။ “ကရုဇာဆိုနာတာ' မှာ ဖောက်ပြားသောမိန်းမကို ယောကျ်ားလုပ်သူက သတ်သည့်ဇာတ်လမ်းဖြစ်သည်။ထိုဝတ္ထုထဲတွင်တော်စတွိုင်း သည် ၎င်း၏ဇာတ်လိုက် ပေါ့ဇ်နီယက်မှတစ်ဆင့် မိန်းမနှင့် ပတ်သက်သော ၎င်း၏ သဘောထားများကို အကျယ်တဝင့် ဆွေးနွေးထားသည်။

“ကရုဇာ- ဆိုနာတာ မှာ မင်း ဘာသဘောမကျ သလဲကွာ။ ဥပမာ”

မောင်ကြည်လင်က သွားတိုက်ခြင်းကို ရပ်ကာ ကျွန်တော့်အနီးတွင် ထိုင် လိုက်သည်။ “

“ဥပမာ ဆိုပါတော့။ “ကရုဇာ ဆိုနာတာ” ဝတ္ထု ထဲမှာ ဇာတ်လိုက် အဘိုး ကြီး ပေါ့ဇ်နီယက်ပြောတဲ့ တော်လ်စတွိုင်းရဲ့ အယူအဆတွေဟာ ပြင်းထန်လွန်း တယ်။ မိန်းမတွေနဲ့ ပတ်သက်တဲ့ အမြင်ဟာ သိပ်တစ်ဖက်စောင်း နင်း ဖြစ်လွန်း တယ်။ သူက မိန်းမတွေရဲ့ လွတ်လပ်ခွင့် ဟာ ယောကျ်ားများနဲ့ ရင်ပေါင်တန်း အလုပ်လုပ်နိုင်ခွင့်၊ မဲဆန္ဒပေးပိုင်ခွင့်၊ အရွေးခံနိုင်ခွင့်၊ တက္ကသိုလ်ပညာများကို တန်းတူသင်ကြားနိုင်ခွင့်တို့အပေါ်မှာ မတည်ဘူးလို့ ဆို တယ်။ ယောကျ်ားတွေဟာ မိန်းမတွေကို ဖြေဖျော်စရာ ပစ္စည်းတစ်ခုလို့ သဘောထားနေကြတယ်။ မိန်းမတွေ

ကလဲ သူတို့ကိုယ်ကို သူတို့ယောကျ်ားတွေရဲ့ အဖျော်ဖြေခံ ပစ္စည်းလို့ သဘောထား နေကြတယ်။ ဒီသဘောထားနှစ် မျိုးကို ယောကျ်ားရဲ့ ဘက်ကရော၊ မိန်းမရဲ့ ဘက် ကပါ ပြောင်းလဲနိုင်မှ မိန်းမတွေ လွတ်မြောက်ရေးရမယ်လို့ ဆိုတယ်" ။

"အေးလေ၊ ဒါ ဟုတ်သားပဲ။ ဘာပြောစရာ ရှိသလဲ။ မိန်းမတွေရဲ့ လွတ်မြောက်ရေးဟာ ယောကျ်ားနဲ့ မိန်းမရဲ့ အတွင်းစိတ်သဘောထားတွေ တကယ်ပြောင်းလဲ မှ ဖြစ်လာနိုင်တဲ့ကိစ္စ မဟုတ်ဘူးလား"

"

"ဒီလောက်နဲ့ ရပ်ရင်တော့ ဟုတ်ပါတယ်။ ဘာမှ အထူးပြောစရာ မရှိသေးပါ ဘူး။ ဒါပေမဲ့ တော်လ်စတွိုင်း က ဒီတွင် မရပ်ဘူးဗျ။ အိမ်ထောင်ရေးစနစ်ကြီးဟာ ထောင်ချောက်ကြီးနဲ့ တူတယ်လို့ ဆက်ပြောတယ်။ မိဘ တွေဟာ မိန်းကလေး တစ်ယောက်ကို အရွယ်ရောက်လာ ရင် လင်ပေးစားလိုက်ကြတယ်။ ဒီဓလေ့ဟာ တရုတ်တွေ၊ ဟိန္ဒူဘာသာဝင်တွေ၊ မဟာမေဒင်ဘာသာဝင်တွေနဲ့ ဗုဒ္ဓ ဘာသာဝင် တွေထဲမှာ ခေတ်စားခဲ့တယ်။ ဒါကို တော်စတွိုင်း က မကြိုက်ဘူး"

"ဒါကော ဘာပြောစရာ ရှိသလဲကွ။ ပဒေသရာဇ် အိမ်ထောင်ရေးကို ဆန့်ကျင်တာပဲ"

မောင်ကြည်လင်က မျက်နှာသုတ်ပဝါကို လည်ပင်း တွင် ရစ်သိုင်းရင်း ပြော လိုက်သည်။

"ဟုတ်တယ်။ ဘာမှ ပြောစရာမရှိဘူး။ ဒါဟာ ပဒေသရာဇ် အိမ်ထောင်ရေး စနစ်ကို တော်လ်စတွိုင်းက ဆန့်ကျင်ပြလိုက်တာပဲ။ ဒါဟာ တော်စတွိုင်းရဲ့ တော် လှန် ရေးကျတဲ့ အပိုင်းဖြစ်တယ်။ ဒါကို မတ်လီနင် ဝါဒယုံ ကြည်သူတွေကို မဆို ထားနဲ့ ခေနရှင်ပညာတတ်တွေက တောင် မကြိုက်ကြဘူး။ တော်စတွိုင်းက ဆက်

ပြောတယ်။ ဒီ အိမ်ထောင်ရေးစနစ်မျိုးကို မကြိုက်တဲ့လူရမ်းကားတွေက (ခေရှင်လူတန်းစားကို ဆိုလိုချင်တယ်လို့ ကျွန်တော် သဘောရတယ်လေ။) အိမ်ထောင်ရေးစနစ်သစ်တစ်ခုကို သွင်းလာခဲ့ကြတယ်။ သူတို့က ကုန်ပစ္စည်းတစ်ခုကို ဝယ်ဖို့ ဈေးထဲ လျှောက်ကြည့်သလို မိန်းမတွေကိုလည်း လျှောက်ကြည့်ကြပြီး စိတ်ကြိုက်ရွေးကြတယ်။ ဒီအခါမှာ မိန်းမတွေကလည်း ရောင်းကုန်တစ်ခုကို မှန်သေတ္တာထဲ မှာ ပြထားသလို တစ်ကိုယ်လုံး အလှပြင်ပြီး "အစ်ကိုတို့ ကျွန်မကို ရွေးနော်၊ ဟိုဘက်ကဟာကို သွားမရွေးနဲ့။ ကြည့်စမ်း။ ကျွန်မ ပခုံးတွေ၊ ရင်တွေ၊ တင်တွေ ပေါင် တံတွေ၊ ခြေသလုံးတွေက ဘယ်လောက်လှသလဲ"လို့ မပြောသော်လည်း ပြောသယောင်နဲ့ အလှပြင်ကြတယ်။ ဒါဟာ မိန်းမတစ်ယောက်ကို ရောင်းကုန်ပစ္စည်းတစ်ခုလို သဘောထားတာပဲ။ မိန်းမတွေကလဲ သူတို့ကိုယ်ကို သူတို့ ရောင်းကုန်လို့ အထင်ခံရတာကို ကျေနပ်ကြတယ် ' လို့ သူက ဆက်ပြောတယ်"

"ကဲ ... ဆိုစမ်းပါဦး၊ ခုနဟာကကော တော်လ် တွိုင်းဟာ ခေရှင် အိမ်ထောင်ရေးစနစ်ကို ဆန့်ကျင်တာ မဟုတ်ဘူးလား" .. ' "ဟုတ်ပါတယ်။ ဒါဟာ တော်လ်စတွိုင်းက ( ခေရှင် အိမ်ထောင်ရေးစနစ်ကို ဆန့်ကျင်ပြလိုက်တာပါပဲ။ ဒါပေမဲ့ တော်လ်စတွိုင်းဟာ ပဒေသရာဇ် အိမ်ထောင်ရေး စနစ်နဲ့ တကယ်သစ်စ ခေရှင်အိမ်ထောင်ရေးစနစ်ကို ဆန့်ကျင် တဲ့နေရာမှာ သူ့ရဲ့ ရပ်တည်ချက်ဟာ ပဒေသရာဇ်လူတန်း စားဖြစ်နေသေးတယ်။ သူဟာ ယိုယွင်းနေတဲ့အိမ်ထောင်ရေး စနစ်ကို ဝေဖန်ရာမှာ ရပ်တည်ချက်အသစ်နဲ့ ဝေဖန်တာ မဟုတ်ဘူး။ လူတန်းစား ရပ်တည်ချက်ဟောင်းနဲ့ ဝေဖန် တာပဲ ဖြစ်တယ်။ ဒီရပ်တည်ချက်ဟောင်းနဲ့ ဝေဖန်တော့ ဘာဖြစ်သလဲ။ မိန်းမတွေအပေါ်မှာ အင်မတန် ပြင်းထန်တဲ့ စီရင်ချက်ကြီးက ချမိလျက်သား ဖြစ်နေတယ်"

"ဘယ်လို စီရင်ချက်မျိုးလဲကွ" မောင်ကြည်လင်က ပြုံး၍ မေးလိုက်၏။

"သူက မိန်းမတွေကို တက္ကသိုလ်ပညာ သင်ကြား စေရုံ၊ သိပ္ပံပညာတွေကို တက်မြောက်စေအောင် လုပ်ပေးရုံ၊ တရားသူကြီးတွေ၊ ဝတ်လုံတွေ၊ စစ်ဗိုလ်မတွေ ဖြစ်အောင် လုပ်ပေးရုံနဲ့ မိန်းမတွေရဲ့ အဆင့်အတန်းဟာ မြင့်မလာ ဘူး။ မိန်းမဟာ မိန်းမပဲ။ လောကမှာ မိန်းမတစ်ယောက်ရဲ့ အမြင့်မားဆုံးသော ရည်ရွယ်ချက်ဟာ ယောကျ်ားတွေကို ညို့ယူဖမ်းစားနိုင်အောင် လုပ်ဖို့ပဲ ဖြစ်တယ်။ မိန်းမရဲ့ ရည်ရွယ်ချက်ဟာ ဒီမှာတင် အဆုံးသတ်တော့တယ်လို့ သူက ယူဆတယ်။ မိန်းမ တစ်ယောက်ဟာ ယောကျ်ားတစ် ယောက်ကို ညို့ယူဖမ်းစားနိုင်ခြင်း မရှိရင် မိန်းမ မပီသ ဘူး။ မိန်းမဖြစ်ရခြင်းရဲ့ ရည်ရွယ်ချက် မမြောက်ဘူး။ ယောကျ်ားတစ် ယောက်ကို ညို့ယူဖမ်းစားနိုင်မှသာ မိန်းမ ဖြစ်ရတဲ့ ရည်ရွယ်ချက် ပြည့်မြောက် တယ်။ အဲဒီမိန်းမဟာ အပျိုဖြစ်ရင် လင် တစ်ယောက်ရွေးနိုင်ဖို့ ဒီအတတ်ပညာကို တတ်ရမယ်။ လင်ရှိမိန်းမဖြစ်ရင်လဲ ကိုယ့်လင်အပေါ်မှာ ထာဝစဉ်လွှမ်းမိုးထားနိုင် ဖို့ ဒီအတတ်ပညာကို တတ်မြောက် ရမယ်။ မိန်းမဟာ ယောကျ်ားတွေနဲ့ ရင်ပေါင်တန်း လိုက်နိုင်တာဟာ တန်းတူအခွင့်အရေး မဟုတ်ဘူး။ မိန်းမ နဲ့ ယောကျ်ားရဲ့ တန်းတူအခွင့်အရေးဆိုတာ လိင်ဆက်ဆံ မှုမှာ တူညီတဲ့ အခွင့်အရေး ရှိရမယ်။ ယောကျ်ားက မိန်းမတစ်ယောက်ကို ချစ်ရေးဆိုပိုင်ခွင့်ရှိ သလို မိန်းမက လည်း ယောကျ်ားတစ်ယောက်ကို ချစ်ရေးဆိုပိုင်ခွင့်ရှိရမယ်။ ယောကျ်ားဟာ အချစ်ဟောင်း ကုန်ဆုံးရင် အချစ်သစ် ရှာပိုင်ခွင့် ရှိရမည်လို့ ဆို ထားတယ်။ ကျွန်တော့် အမြင် ကတော့ တော်လ်စတွိုင်းရဲ့ အိမ်ထောင်ရေး အမြင် ဟာ အာဒမ်ရဲ့ နံရိုးတစ်ချောင်းကို ခွဲထုတ်ပြီး မိန်းမကိုဘုရား 'သခင်က ဖန်ဆင်းခဲ့ တာဖြစ်တဲ့အတွက် ယောကျ်ားထက် နိမ့်ကျတယ်။ မိန်းမနဲ့ယောကျ်ား တန်းတူ ညီမျှခွင့်ရအောင် ဖိုမဆက်ဆံရေးကိစ္စကို အခွင့်အရေးတူညီရမယ်လို့ ပြော နေ တယ်။ ဒါဟာ တစ်ဖက်က ခရစ်ယာန် အဆုံးအမကို လက်ခံပြီး အခြားတစ်ဖက်က

မင်းမဲ့ဝါဒအယူလို့ ကွဲပြား ချက်ကို တော်လ်စတွိုင်းရဲ့ အိမ်ထောင်ရေးအမြင်ဟာ ခရစ်ယာန်မင်းမဲ့ဝါဒအယူလို့ ကျွန်တော်ထင်တယ်။ လူပေါ် စကတည်းက ကွဲပြား လာတဲ့ ကွဲပြားချက်ကို တော်လ် စတွိုင်းက တစ်ရက်တည်းနဲ့ အဆုံးသတ်ပစ်ချင် နေတယ်"

"ဒါပဲလား"

"မကသေးဘူးလား ခင်ဗျာ။ သူက ဆက်ပြော တယ်။ မိန်းမဟာ ဖိုမ ဆက်ဆံရေးကိစ္စမှာ ဒီလိုအခွင့်အရေး မတူညီဘဲ တစ်ပန်းရှုံးတဲ့အခါကျတော့ ယောက်ျားရဲ့ ရာဂထက်သန်မှုကို အခွင့်ကောင်းယူပြီး ယောက်ျားကို ကျွန်ပြုတယ် လို့ သူကဆိုတယ်။ ဒီနည်းအားဖြင့် မိန်းမတွေ ဟာ ယောက်ျားတွေအပေါ်မှာ အနိုင် ယူရုံတွင် မကဘူး။ လူ့လောကကြီးကို အုပ်စိုးထားတယ်။ ဘယ်လိုအုပ်စိုး လွှမ်းမိုး နေသလဲ။ မြို့ထဲကို လှျောက်ကြည့်စမ်းပါ။ ဈေးဆိုင် တွေမှာ သန်းပေါင်းများစွာ တန်တဲ့ မိန်းမအသုံးအဆောင် ပစ္စည်းတွေ ပုံနေတယ်။ ဈေးဆိုင် ဆယ်ဆိုင်မှာ ကိုး ဆိုင် ဟာ မိန်းမတွေ အလှပြင်တဲ့ ပစ္စည်းတွေနဲ့ ပြည့်နေတယ်။ ဒီပစ္စည်းတွေ အတွက် လူတွေရဲ့ လုပ်အားတွေကို ဘယ် လောက် သုံးခဲ့ရသလဲ။ စက်ရုံတွေကို ကြည့်စမ်းပါဦး။ စက်ရုံ တော်တော်များများဟာ ဘာမှ အသုံးမကျတဲ့ လက်ဝတ်လက်စားတွေ၊ အလှပြင်တဲ့ပစ္စည်းတွေ၊ မော်တော် ကားလှလှတွေ၊ ပရိဘောဂလှလှတွေ၊ ဖိနပ်လှလှတွေ၊ ထီးလှလှတွေကို လုပ်နေကြရတယ်။ ဒီလိုနဲ့ မျိုးဆက်ပေါင်း များစွာဟာ မိန်းမတွေရဲ့ အလှပြင်တဲ့ ပစ္စည်းတွေကို ထုတ်လုပ်ရင်း `စက်ရုံတွေထဲမှာ ကျွန်ခံနေကြရတယ်။ မိန်းမတွေဟာ လူ့လောကကြီးရဲ့ ၁၀ ပုံ ၉ ပုံကို သူတို့ အလှပြင်ဖို့အတွက် ပင်ပန်းဆင်းရဲတဲ့ အလုပ်တွေကို အလုပ်ခိုင်းတယ်။ ဒါဟာ မိန်းမက သူ့ အခွင့်အရေးတွေ ဆုံးရှုံးတဲ့အတွက် ယောက်ျားတွေရဲ့ ရာဂ ထက်သန်မှုကို အခွင့်ကောင်းယူပြီး လက်စားပြန်ချေတာ ဖြစ်တယ်လို့ တော်လ်စ

တွိုင်းက ပြောခဲ့တယ်။ ဒီတော့ မိန်းမတွေအပေါ် မှာ တော်လ်စတွိုင်း မြင်ပုံဟာ တစ်ဖက်စီးနင်း မကျဘူး လား။ ကျွန်တော်တို့ယောကျ်ားတွေဟာ မိန်းမချောတွေ က အနှစ်သာရ မရှိ။ ပေါ့ပျက်တဲ့စကားတွေကို ပြောရင်လည်း လေးနက်ပြီး အဓိပ္ပာယ်ပါတဲ့စကားလို့ ထင်တတ်ကြတယ်။ မိန်းမချောတွေက မိုက်မဲ့တဲ့အလုပ် တွေကို လုပ်တဲ့အခါ မှာလည်း စွဲမက်စရာကောင်းတယ်လို့ ထင်တတ်ကြတယ်။ ဒါ ဟာ မိန်းမတွေရဲ့ အပြစ်လား။ ယောကျ်ားတွေရဲ့ ပျော့ ကွက်ကော မဟုတ်ဘူး လား။ မဟုတ်ခါမှ လွဲရော၊ ကျွန်တော်တော့ တော်လ်စတွိုင်းနှင့်ပတ်သက်တဲ့ မိန်းမ တွေရဲ့ အမြင်ဟာ မန်လည်ဆရာတော်ဘုရားရဲ့ မဃဒေဝ လင်္ကာသစ်လို မိန်းမတွေအပေါ်မှာ အဆိုးမြင်ဝါဒ ထားရာ မရောက်ဘူးလား။ (မန်လည် ဆရာတော်ကြီးရဲ့ မဃဒေဝ  လင်္ကာသစ်မှာ ယောကျ်ားတွေ မကောင်းကြောင်း လုံးဝ မပါဘူးလို့တော့ မဆိုလိုပါဘူးလေ)”

မောင်ကြည်လင်သည် ကုလားထိုင်ပေါ်တွင် တင် ပျဉ်ခွေထိုင်လိုက်သည်။ ထို့နောက် လက်ဝါးနှစ်ဖက် ဖြန့်လိုက်ရင်း ...

“ကိုယ်ကတော့ တော်လ်စတွိုင်းကို ဒီလိုမြင်တယ် လေ။ တော်လ်စတွိုင်းရဲ့ အယူအဆမှာ အားနည်းချက်တွေ ရှိတယ်။ အစွန်းရောက်တာတွေ ရှိတယ်။ သူ့ ဟာနဲ့သူ ပြန်ပြီး ပဋိပက္ခဖြစ်တာတွေ ရှိတယ်။ တကယ်တော့ ဒါဟာ သဘာဝကျပါ တယ်။ တော်လ်စတွိုင်းဟာ ပဒေ သရာဇ်လူတန်းစားက ဆင်းသက်လာတာဖြစ် တယ်။ မဟာရာဇာလူတန်းစားက ဆင်းသက်လာတာဖြစ်တယ်။

တော်လ်စတွိုင်းဟာ ငါ့မင်းငါ့ချင်း ဇာစနစ်ကို မကျေနပ် ဘူး။ အဲဒီခေတ်က ရုရှားပြည်မှာ တင်းကြမ်းပြည့်နေတဲ့ လူမမျှတမှုတွေကို မကျေမနပ်ဖြစ်ရာက မ မှန်မကန် ပေါက်ကွဲလာတာပဲ။ တော်လ်စတွိုင်းဟာ သူ့ခေတ်ရဲ့ ကန့်သတ်ချက် တွေကို မကျော်လွှန်နိုင်ဘူး။ ပဒေသရာဇ် စနစ်ကို ဆန့်ကျင်တယ်ဆိုပေမဲ့ သူဟာ

ပဒေသရာဇ်စနစ်ကို ပဒေသရာဇ်ဘောင်ထဲကပဲ ဆန့်ကျင်နေတယ်။ ပြုပြင်ရေး လုပ်ငန်းတွေနဲ့ပဲ ကျေနပ်ရောင့်ရဲနေတယ်။ ဒါဟာ တော် စတွိုင်းရဲ့ အားနည်းချက်ပဲ။ တော်လ်စတွိုင်းရဲ့ ခေတ်တုန်း က ဥရောပမှာ စက်မှုတော်လှန်ရေး ပြီးသွားပြီ။ ဥရောပ မှာ ဓနရှင်စနစ် ထွန်းကားစပြုနေပြီ။ ဒါပေမဲ့ တော်လ် စတွိုင်းဟာ သမိုင်း ရုပ်ဝါဒကို နားမလည်တော့ (နားလည် ပြီး လက်မခံတာလဲ ဖြစ်နိုင်ပါတယ်။) ပဒေသရာဇ်ပြီးရင် ဓနရှင်ခေတ် ပေါ်ပေါက်လာရတယ်ဆိုတဲ့ သမိုင်းရဲ့ ဖြစ်ပေါ် တိုးတက်မှု တရားတွေကိုလည်း နားမလည်ခဲ့ဘူး။ ဒါ ကြောင့်မို့ သူဟာ ပဒေသရာဇ်စနစ်ကိုလည်း မကျေနပ်၊ ဥရောပ ပဒေသရာဇ်စနစ်ကိုလည်း မ ကျေနပ်၊ ဥရောပ ပဒေသရာဇ်စနစ်ကို အဆုံးသတ်ခဲ့တဲ့ ပြင်သစ်တော်လှန် ရေးကြီး ကိုလဲ မကြိုက်နိုင် ဖြစ်နေတာပေါ့။ ဘာပဲဖြစ်ဖြစ် တော်လ်စတွိုင်းဟာ ကမ္ဘာမှာ စံ မြောက်တဲ့ ဝတ္ထုကြီးတွေ ကို ရေးခဲ့တဲ့ စာရေးဆရာကြီး ဖြစ်တယ်။ အထူးသဖြင့် သူ့ရဲ့ "စစ်နှင့်ငြိမ်းချမ်းရေး"လို ဝတ္ထုကြီးမျိုးဟာ တို့မြန်မာ စာပေမှာ ဘာသာပြန် ပြီးသား ဖြစ်သင့်တယ်။"

ကျွန်တော်တို့နှစ်ယောက် စကားကောင်းနေကြ  သည်မှာ အတော်ကြာပြီ ဖြစ်၏။ အိပ်ရာမှ နိုးသူနိုးလာ ကြပြီ။ အောင်စိုး (စာရေးဆရာ)ကလည်း စစ်နှင့် ငြိမ်းချမ်း ရေးလို ဝတ္ထုကြီးမျိုးကို ပြန်သင့်သည်ဟု ထောက်ခံသည်။

ကျွန်တော်တို့သည် စတည်းချနေကျ လက်ဖက် ရည်ဆိုင်ဖြစ်သော ရို့စ်မာရီ သို့ ထွက်လာခဲ့ကြသည်။

## (၃)

"စစ်နှင့်ငြိမ်းချမ်းရေး"ကို တစ်နေ့ အခွင့်သင့်သော အခါတွင် မြန်မာဘာသာ သို့ ပြန်မည်ဟု ကျွန်တော် ဆုံးဖြတ်ခဲ့သည်။ သို့ရာတွင် နှစ်တွေ လတွေသာ ကုန်ခဲ့

သည်။ ထို၀တ္ထုကြီးမှာ ရှည်လျားထွေပြားရုံသာမက ခက် လည်း ခက်သည်။ အယူအဆ အတွေးအခေါ်တွေ တင်း ကြမ်းပြည့်နေသဖြင့် လုံးစေ့ပက်စေ့ပြန်နိုင်ပါမှ၊ ရေလည် အောင် ပြန်နိုင်ပါမှ စာဖတ်ပရိသတ်အတွက် အကျိုးရှိ မည်။ သို့ရာတွင် ကျွန်တော်သည် ထို၀တ္ထုကြီးကို မြန်မာ ပြန်မည် ဟုသာ စိတ်ကူးသော်လည်း အဆုံးတိုင် မဖတ်ဖြစ် သေးပေ။ အမေရိကန်မှ နာမည်ကျော် ဝေဖန်ရေးဆရာ အက်ဒမန်ဖူးလား တည်းဖြတ်သည့် ၀တ္ထုအကျဉ်းချုပ်နှင့် အမေရိကန် ပါမောက္ခ အားနက်(စ်) ဆီမွန်တည်းဖြတ်သည့် အကျဉ်းချုပ်နှစ်မျိုးကိုသာ ဖတ်ဖူးသေးသည်။

သို့ဖြင့် နှစ်တွေ ကုန်လွန်သွားခဲ့သည်။ "စစ်နှင့် ငြိမ်းချမ်းရေး"ကို မြန်မာပြည်မည်ဟု စိတ်ကူးရုံသာ စိတ်ကူး မိသော်လည်း မပြန်ဖြစ်ခဲ့ပေ။

ထိုအတောအတွင်း ဆရာကြီး ရွှေဥဒေါင်းက"စစ် နှင့် ငြိမ်းချမ်းရေး" ၀တ္ထုကြီးကို မြန်မာပြန်မည်ဟု ကြား ရသောအခါ ကျွန်တော် ၀မ်းသာသွားသည်။ ထို ၀တ္ထုကြီး ကို ဆရာကြီးရွှေဥဒေါင်းလို ပုဂ္ဂိုလ်မျိုးက ပြန်မည်ဆိုလျှင် အသင့်လျော်ဆုံးဖြစ်သည်ဟု ကျွန်တော် ထင်သည်။ ဆရာကြီးရွှေဥဒေါင်းလို ကျွန်တော့်ထက် ၀ါရင့်သော စာရေးဆရာကြီးတစ်ဦး၊ ပညာဉာဏ်အရာတွင် သာလွန် သော စာရေးဆရာကြီးတစ်ဦးက ပြန်မည်ဆိုလျှင်ကျွန်တော် ပြန်စရာမလိုတော့။ မည်သူက ဘာသာပြန်သည်ဖြစ်စေ မြန်မာစာပေလောကတွင် လစ်လပ်နေသော ကွက်လပ် ကြီးတစ်ခုကို ဖြည့်ပြီးသား ဖြစ်မည်ဟု တွေးကာ ၀မ်းသာ ခြင်း ဖြစ်ရလေသည်။

အကယ်၍ ဆရာကြီးရွှေဥဒေါင်း မပြန်ဖြစ်ဘဲ  တစ်ယောက်ယောက်က ပြန်သည်ဆိုလျှင်လည်း (မြန်မာ ပြန်ဆိုချက်သည် လေးစားလောက်သော ပြန်ဆိုချက် ဖြစ်ပါက) နောက်ထပ် ပြန်စရာမလိုတော့ဟု ကျွန်တော် ယူဆသည်။

မှန်ပါသည်။ စာရေးဆရာတစ်ယောက်၌ သူကြိုက် ရာကို ပြန်ဆိုပိုင်ခွင့် ရှိပါသည်။ နိုင်ငံခြား စာအုပ်တစ်အုပ် ကို လူတိုင်း ပြန်ဆိုခွင့် ရှိပေသည်။ အထူးသဖြင့် မြန်မာ နိုင်ငံကဲ့သို့ နိုင်ငံတကာ မူပိုင်ခွင့် စာချုပ်စာတန်းဖြစ်သည့် ဘန်းကွန်ဗင်းရှင်း (Bern Convention)ကို လက်မှတ် ရေးထိုးခြင်းမရှိသည့် နိုင်ငံများ၌ မူရင်းစာရေးဆရာ၊ သို့မဟုတ် ပုံနှိပ်တိုက်ထံခွင့်တောင်းစရာမလိုဘဲ ပြန်ဆိုနိုင်ကြသည်။ ဘာမျှ ပြဿနာမပေါ်။

သို့ရာတွင် သက်မွေးဝမ်းကျောင်း ပညာတပ်တစ်ခု ကို လိုက်စားကြသူများ၌ သက်မွေးဝမ်းကျောင်းဆိုင်ရာ ကျင့်ဝတ်ဗေဒများ ရှိကြသည်။ ကျင့်ဝတ်ဗေဒသည် စာရွက် ပေါ်တွင် ရေးဆွဲပြဋ္ဌာန်းထားသော ဥပဒေတစ်ရပ် မဟုတ် ပေ။ ဖောက်ဖျက်လိုကလည်း ဖောက်ဖျက်နိုင်၏။ သို့ရာ တွင် ဖောက်ဖျက်သင့် မဖောက်ဖျက်သင့်ဆိုသည့် ကိစ္စမှာ ကျင့်ဝတ်ပြဿနာတစ်ရပ် ဖြစ်ပေသည်။

မုဆိုးသည် တော၏စည်းကမ်းကို စောင့်ထိန်းပေ သည်။ အခြားသူ ပစ်မည်ဟု ချိန်ထားသော သားကောင် ကို ဝင်ရောက်ပစ်ခတ်ခြင်း မပြုချေ။ ခါးပိုက်နှိုက်သည် လည်း ၎င်း၏ကျင့်ဝတ်ကို ထိန်းသိမ်းပေသည်။ ဆရာဝန် သည်လည်းကောင်း၊ တရားဥပဒေပညာရှင်သည် လည်း ကောင်း၊ ၎င်းတို့၏ကျင့်ဝတ်များကို စောင့်ထိန်းကြလေ သည်။ ထို့အတူ ကျွန်တော်တို့၌လည်း ကျွန်တော်တို့ ကျင့်ဝတ်ဗေဒများကို ဆောင့်ထိန်းရပေမည်။ စာရေးဆရာ၏ ကျင့်ဝတ်ဗေဒသည် စာရွက်ပေါ်တွင် ရေးဆွဲပြဋ္ဌာန်းထား ခြင်း မဟုတ်ချေ။ စာရေးဆရာ၏ ဩတ္တပ္ပစိတ်အတွင်း၌ ပြဋ္ဌာန်းထားခြင်းသာ ဖြစ်လေသည်။ ထိုကျင့်ဝတ်ဗေဒကို မလိုက်နာလျှင်ကော ဘာဖြစ်သေးသနည်း။ ဘာမှမဖြစ်ချေ။ တရားဥပဒေအရလည်း ဘာမျှ ငြိစွန်းသည် မဟုတ်ချေ။ သို့ရာတွင် မိမိ၏ဩတ္တပ္ပစိတ်ကား ညစ်နွမ်းရပေလိမ့်မည်။

ကုန်သည်၌ ကျင့်ဝတ်ဗေဒ မရှိချေ။ ကုန်သည် သည် ရသာလျှင် ဘနဖူးကို သိုက်တူးမည့် လူစားမျိုး ဖြစ်သည်။ ကားလ်မတ် ပြောခဲ့သကဲ့သို့ ရာခိုင်နှုန်း  နှစ်ရာ မြတ်လျှင် စက်တိုင် တက်ရစေတော့၊ ထိုအမြတ် အစွန်းကို ရအောင်ယူလိမ့်မည် ဖြစ်ပေသည်။

သို့ရာတွင် စာရေးဆရာသည် ကုန်သည် မဟုတ် ချေ။ . " ထို့ကြောင့် ဆရာကြီးရွှေဥဒေါင်းက "စစ်နှင့်ငြိမ်း ချမ်းရေး" ဝတ္ထုကြီးကို မြန်မာပြန်မည်ဆို သောအခါ ကျွန် တော်သည် အကြောင်းနှစ်ကြောင်းကြောင့် ကျွန်တော် မြန်မာပြန် မည့် စိတ်ကူးကို စွန့်လွှတ်လိုက်သည်။

ပထမအကြောင်းမှာ ဆရာကြီးရွှေဥဒေါင်းလို ( ပုဂ္ဂိုလ်မျိုးက မြန်မာပြည် မည်ဆိုလျှင် ကျွန်တော့်ထက် ပို၍သင့်လျော်မည်၊ ပို၍ကောင်းမည်၊ မြန်မာစာပေ လောက အတွက် ပို၍အကျိုးများမည်ဟု ယူဆ၍ ဖြစ်သည်။

ဒုတိယအကြောင်းမှာ တစ်ဦးက မြန်မာပြန်မည်ဟု ရည်ရွယ်ထားသော စာအုပ်ကို ကျွန်တော်ပြန်ရန်မသင့်ဟု ယူဆ၍ဖြစ်သည်။ အခြားသူ ပစ်ရန်ချိန်ထား သော ပစ်ကွင်း ကို ဝင်လု၍ပစ်သော မုဆိုးသာ ဖြစ်လိမ့်မည်။ ။

ဤအကြောင်း နှစ်ချက်ကြောင့် "စစ်နှင့်ငြိမ်းချမ်း ရေး" ဝတ္ထုကြီးအား မြန်မာပြန်ရန် စိတ်ကူးကို ကျွန်တော် စွန့်လွှတ်ခဲ့ခြင်း ဖြစ်သည်။

၁၉၆၂-ခုနှစ် သင်္ကြန်တွင် ကျွန်တော် မန္တလေးသို့ ရောက်သွားသည်။ ကျွန်တော်သည် ဆရာကြီးကို သွား ရောက် ကန်တော့ကာ မာကြောင်း သာ ကြောင်း နှုတ်ဆက် သည်။ "စစ်နှင့်ငြိမ်းချမ်းရေး" ဝတ္ထုကြီးကိုလည်း ဆရာကြီး ရွှေဥဒေါင်းပြန်ရန် တိုက်တွန်း မေတ္တာရပ်ခံခဲ့သည်။ . ကျွန်တော် တိုက်တွန်း သောအခါ ဆရာကြီးရွှေဥ ဒေါင်းသည် ခေတ္တမျှ စဉ်းစားနေ၏။ အတန်ကြာမှ . "ငါ အချိန်မရပါဘူးကွာ။ ငါ့မှာ ဒီထက်အရေးကြီး တဲ့ အလုပ်တွေ ရှိတယ်"

ဆရာကြီးရွှေဥဒေါင်းမှာ ထိုစဉ်က သမထဝိပဿ နာ စသောလောကုတ္တရာ လုပ်ငန်းများကို အားထုတ်လျက်ရှိ သည်။

ဆရာကြီး ရွှေဥဒေါင်းနှင့် ကျွန်တော်တို့သည် ဘာထရန်ရပ်ဆယ်၏ "လူ၌ အနာဂတ် ရှိသလော" ဆို သော စာအုပ်နှင့် စပ်လျဉ်း၍ ဆွေးနွေးကြသည်။ ဆရာကြီး က ဘာထရန်ရပ်ဆယ်၏ ကျမ်းနှင့်ပတ်သက်၍ သူ၏ ထင်မြင်ချက်များ ကို ပြောပြပေသည်။

"ငါ့မှာ လောကုတ္တရာကိစ္စတွေ လုပ်စရာ ရှိသေး တယ်ကွ။ ဒီတော့ ဒီစာအုပ် ကို ဘာသာပြန်ဖို့ အချိန်မရှိ သေးဘူး" ဟုလည်း ထပ်လောင်း ပြောကြားလိုက် သေး ကျွန်တော်သည် ထိုအခါကျမှ "စစ်နှင့်ငြိမ်းချမ်းရေး" ဝတ္ထုကြီးကို မြန်မာပြန် ရန် ဆုံးဖြတ်ခဲ့ခြင်း ဖြစ်လေသည်။

# (၄)

"စစ်နှင့်ငြိမ်းချမ်းရေး"လို ဝတ္ထုကြီးကို မြန်မာပြန်မည်ဟု ဆုံးဖြတ်သောအခါ တွင် အခက်အခဲတွေ ပေါ်လာလေ သည်။ "စစ်နှင့်ငြိမ်းချမ်းရေး" ဝတ္ထုကြီးမှာ ခေတ်အမျိုးမျိုး စာရေးဆရာကြီးများက အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့ကြသည်။ မည် သည့်အင်္ဂလိပ်ဘာသာပြန်ကို မူတည်၍ ပြန်ဆိုခြင်း ပြုမည်နည်း ဆိုသည့်ပြဿနာ ပေါ်လာသည်။

ကျွန်တော်သိလောက် "စစ်နှင့်ငြိမ်းချမ်းရေး' အင်္ဂ လိပ်ဘာသာပြန်လေး မျိုးခန့် ရှိသည်။ အစောဆုံးမှာ ဗာဇေတယ်လီ၏ ဘာသာပြန် ဖြစ်သည်။ သို့ရာတွင် ထို ဘာသာပြန်မှာ အလွန်ညံ့သည်။ ဘာသာပြန်ညံ့သဖြင့် ထိုစာအုပ်ကို ထုတ်ဝေ သော စာအုပ်တိုက်သည် ဒေဝါလီ ခံသွားရသည်။ ထိုဘာသာပြန်ကို ပုံနှိပ်ရန်

အတွက် ပြုလုပ် ထားသည့် ဘလောက်ပြားများကို လေလံတင်ခံရသည် အထိ ဖြစ် သွားသည်။ ထို့ကြောင့် ထိုစာအုပ်ကို လက်ရင်း ထား၍ မဖြစ်။ နောက်တစ်အုပ်မှာ ကွန်စတင့်ဂါးနက်၏ ဘာသာပြန်ဖြစ်သည်။ ၎င်းဘာသာပြန်ကိုလည်း ကျွန်တော် မကြိုက်ပေ။ တတိယဘာသာပြန်မှာ အောက်စဖို့ တက္က သိုလ်မှ ထုတ်ဝေသော အိုင်လမာယော့ဒ်တို့ လင်မယား၏ ဘာသာပြန် ဖြစ်သည်။ စတုတ္ထဘာသာပြန်မှာ ပင်းဂွင်းစာ အုပ်တိုက်မှ ထုတ်ဝေသော ရို့စ်မာရီအက်မွန်း၏ ဘာသာ ပြန် ဖြစ်သည်။

ဘာသာပြန်မည်ဆိုသောအခါ ထိုစာအုပ်လေးအုပ် ကို အကုန်ဖတ်ရလေ သည်။ ဘာသာပြန်သူသည် မည်မျှ လောက် ကောင်းသည်ဆိုစေ မူရင်းနှင့် တူနိုင် မည်မဟုတ်။ - ကျွန်တော် ပြန်ရမှာက ရုရှားဘာသာမှ မဟုတ်ဘဲ အင်္ဂ လိပ် ဘာသာပြန်မှတစ်ဆင့် ပြန်ရမည့်ကိစ္စ ဖြစ်သည်။ ထို့ကြောင့် ခေတ်အမျိုးမျိုးက ပြန်ခဲ့ကြသော အင်္ဂလိပ် ဘာသာပြန် လေးအုပ်ကို ဖတ်ကြည့်ရသည်။ ကျွန်တော် အကြိုက်ဆုံးမှာ အိုင်လမာယော့ဒ်တို့လင်မယားဘာသာပြန် သော အောက်စဖို့ တက္ကသိုလ်ထုတ် ဘာသာပြန်ဖြစ်သည်။ အိုလမာယော့ဒ်တို့ လင်မယားသည် မော် စကိုတွင် နှစ်ပေါင်း ၂၅- နှစ်ခန့် နေခဲ့ကြသူများဖြစ်သည်။ ယာစနာပိုလျာရှိ တော် လ်စတွိုင်း၏ အိမ်တွင်လည်း အတော်ကြာကြာ နေခဲ့ဖူးကြသည်။ တော်လ်စတွို င်း၏ ရင်းနှီးသော မိတ်ဆွေ ကြီးများလည်း ဖြစ်ကြသည်။ တော်လ်စတွိုင်းနှင့် ပတ်သက် သည့်ကျမ်းများကိုလည်း ရေးသားပြုစုသူများ ဖြစ်ကြသည်။ ထို့ကြောင့် ဘာသာပြန်လျှင် အောက်စဖို့တက္ကသိုလ် တိုက်ထုတ်ကို လက်ရင်းထား၍ ပြန်မည် ဟု စဉ်းစားမိ သည်။

ဘာသာပြန်ကိစ္စကတော့ ပြီးပြီ။ ထုတ်ဝေမည့်သူ မရှိ။ ဤမျှ ရှည်လျား ထွေပြား၍ ဤမျှထူထဲသော စာအုပ်ကြီးကို မည်သူက အမိုက်ခံ၍ ထုတ်မည်နည်း။

စာဖတ်ပရိသတ်ကလည်း ဝယ်ဖတ်မည်၊ မဖတ်မည်ဟု မည်သူက တာဝန်ခံနိုင်မည်နည်း။ ဤတွင် ကျွန်တော် စိတ်အားလျော့ရပြန်သည်။

သို့ရာတွင် သိပ်မကြာပါ။ ပုဂံစာအုပ်တိုက် မောင်ကိုဦးက သူ ထုတ်ဝေမည်၊ ပြန်သာပြန်ပါဟု ဆိုလာသည်။ ကျွန်တော်ကား စိတ်ချလက်ချ မယုံနိုင်သေး။ သာမန် ဝတ္ထုစာအုပ်အရွယ်ဖြင့် စာမျက်နှာ လေးထောင့်ငါးရာခန့်ရှိ 'မည့် စာအုပ်ကြီးကို သူ ဘယ်လိုရိုက်မည်နည်းဟု စဉ်းစားမရအောင် ဖြစ်နေသည်။ ။

မောင်ကိုဦးက သူ့ အစီအစဉ်ကို ပြောပြသည်။ သို့ဖြင့် ကျွန်တော်တို့နှစ်ယောက် ထိုစာအုပ်ကြီးကို ထုတ် ရန် သဘောတူကြသည်။ တစ်လတစ်အုပ်ဖြင့် ၁၂ အုပ် ခွဲထွက်မည်။ တစ်တွဲလျှင် အုပ်ရေ ၂၀၀၀ သာ ကန့်သတ်၍ ရိုက်မည်။ ထုတ်ဝေသူက ရှုံးလျှင်လည်း အရှုံးခံမည်။ ရှုံးလျှင်လည်း စာရေးသူကလည်း စာမူခ မယူ။

စင်စစ်၌ ပုဂံမောင်ကိုဦး လုပ်ရသော အလုပ်သည် စွန့်စားမှုကြီးတစ်ခု ဖြစ်ပါသည်။ (မိုက်ရူးရဲဟုလည်း ခေါ်ချင်ခေါ်နိုင်ပါသည်) အောင်မြင်က ကိစ္စမရှိ။ မအောင် မြင်လျှင် စီးပွားလည်း ပျက်မည်။ အရှက်တကွဲ အကျိုး နည်းလည်း ပြန်ရဦးမည်။ ။

နောက်ဆုံးနှစ်ဖက်စလုံး စိတ်နှလုံးကို ဒုံးဒုံးချ ကာ "စစ်နှင့်ငြိမ်းချမ်းရေး"ကို ကျွန်တော် မြန်မာဘာသာ အကြိုက် သို့ ပြန်ဆိုခဲ့သည်။

"စစ်နှင့်ငြိမ်းချမ်းရေး"ကို ဘာသာပြန်ရသည်မှာ တာဝန်ကြီးသလောက် ပင်ပန်းလှပါသည်။ တော်လ်စတွိုင်း သည် ထိုဝတ္ထုကြီးထဲ၌ ၎င်း၏ လောက အဘိဓမ္မာ၊ စစ်ရေး အဘိဓမ္မာ၊ ရာဇဝင်အဘိဓမ္မာ၊ ဘာသာရေးခံယူချက် စသည်တို့ အကျယ်တဝင့် ရေးသားထားရာ ထိုအချက် များကို ဘာသာပြန်သူက

ရေရေလည်လည် လေ့လာထား မှသာ ဘာသာပြန်နိုင်ပါလိမ့်မည်။ သာမန်ဝတ္ထု တစ်ပုဒ်ကို ဘာသာပြန်ရသည်နှင့် မတူပါ။ ။

ထို့ကြောင့် ကျွန်တော်သည် ဥရောပစစ်သမိုင်းကျမ်း များ၊ မြန်မာစစ်သမိုင်း များကို ရှာဖွေဖတ်ရသည်။ အနောက်တိုင်း ရာဇဝင်ကျမ်းများကို ဖတ်ရသည်။ ဘာသာ ရေးကျမ်းများကို ဖတ်ရသည်။ တော်လ်စတွိုင်း၏ ဝတ္ထု များ၊ ကျမ်းများ ၎င်းနှင့်ပတ်သက်သော ဋီကာများကိုလည်း လက်လှမ်းမီသရွေ့ ရှာဖွေဖတ်ရသည်။ မြန်မာရာဇဝင် ကျမ်းကြီးများကိုလည်း ဖတ်ရသည်။ ပြင်သစ်တော်လှန်ရေး နှင့် န ပိုလီယန်၏ အတ္ထုပ္ပတ္တိကျမ်းများကိုလည်း ဖတ်ရ သည်။

သို့ကလို ဖတ်ရှုလေ့လာပြီးသောအခါ၌ “စစ်နှင့် ငြိမ်းချမ်းရေး”ကို ကျွန်တော် မြန်မာပြန်ခဲ့သည်။ တစ်နေ့ လျှင် ပျမ်းမျှ ၈ နာရီနှုန်းဖြင့် ပြန်ခဲ့ရာ တစ်နှစ်နှင့် လေး လကြာမှ ပြီးပါသည်။

ပုဂံ မောင်ကိုဦးသည် အစက ၂၀၀၀ သာ ရိုက် နှိပ်မည်ဟု ခန့်မှန်းခဲ့ သော်လည်း နောက်တွင် အခြေအနေ ကို ကြည့်၍ တစ်သောင်းကျော်မျှ ရိုက်ခဲ့ သည်။ ကျွန်တော့် စာအုပ်များထဲတွင် တစ်သောင်းရိုက်ရသည့် စာအုပ်ဟူ၍ တစ် အုပ်မျှ မရှိဘူးသေး။ ယခု “စစ်နှင့်ငြိမ်းချမ်းရေး”ကိုမူ တစ်တွဲလျှင် တစ်သောင်း ကျော် ရိုက်ရသဖြင့် ကျွန်တော် တို့နှစ်ယောက် များစွာ အားရရွှင်လန်းခြင်း ဖြစ်ကြ ရပါ သည်။ “

အားရရွှင်လန်းဖြစ်ရခြင်းမှာ ကိုယ့်စာအုပ် တစ် သောင်းကျော်ရိုက်ရခြင်း ကြောထက် ကျွန်တော်တို့ စာဖတ် ပရိသတ် ဤမျှ လိုလိုချင်ချင်ဖတ်ကြခြင်း ကြောင့် ဖြစ်ပါ သည်။ ကျွန်တော်တို့ စာဖတ်ပရိသတ်ကို အစက မယုံရဲ ယုံရဲဖြစ်ခဲ့ ရာ ယခု ကျွန်တော်တို့ စိတ်ချလက်ချ ယုံသွား ပါပြီ။ စာဖတ် ပရိသတ်သည် စာ ကောင်းပေကောင်းကို  တကယ်လိုလားကြောင်း၊ စာကောင်းပေကောင်းကိုသာ

ကျွန်တော်တို့က ရေးမည်ဆိုပါက စာဖတ်ပရိသတ်သည် လက်ခံရန် အဆင်သင့်ရှိကြောင်း ကျွန်တော်တို့ အလေး အနက် ယုံကြည်သွားပါပြီ။ ။

စာဖတ်ပရိသတ်သည် သူ့တာဝန်ကို ကျေပွန်ပါ သည်။ ကျွန်တော်တို့ကသာ ကျွန်တော်တို့ဘက်က တာဝန် ကျေဖို့ လိုပါသည်။ ။

"စစ်နှင့်ငြိမ်းချမ်းရေး" ဝတ္ထုကြီးကို သည်းခံစောင့် စား၍ ဖတ်ခဲ့ကြသော စာဖတ်ပရိသတ်ကြီးကို လည်း ကောင်း၊ ဤဝတ္ထုကြီးကို မြန်မာပြန်ရာ၌ ကူညီကြသော မိတ်ဆွေများနှင့် ကျွန်တော့်ဇနီးကို လည်းကောင်း၊ ဤစာ အုပ်ကြီးကို ပုံနှိပ်ထုတ်ဝေခဲ့သော ပုဂံစာအုပ်တိုက် (မောင် ကိုဦး)နှင့် တကွ ပုဂံစာအုပ်တိုက်မှ ရဲဘော်များ အားလုံး ကိုလည်းကောင်း ကျေးဇူးတင်ပါသည်။

## (၅)

အကျဉ်းထောင်မှ ကျွန်တော် လွတ်လာပြီးနောက် "စစ်နှင့် ငြိမ်းချမ်းရေး" ကျန်အတွဲများဖြစ်သော အမှတ် ၁၀၊ အမှတ် ၁၁ နှင့် အမှတ် ၁၂တို့ကို ထုတ်ဝေခဲ့သည်။ အကြောင်းအမျိုးမျိုးကြောင့် အမှတ် ၉ နှင့် အမှတ် ၁၀ ကြားတွင် ခြောက်နှစ်ကျော်မျှ ကြာသွားခဲ့သည်။ ထိုအတွင်း တွင် စာဖတ် ပရိသတ်ကလည်း စောင့်၍ဖတ်ကြသည်။ မိတ်ဆွေ အမျိုးသမီးတစ်ဦးက"ကျွန်မဖေဖေဟာ "စစ်နှင့် ငြိမ်းချမ်းရေးကို လစဉ်ဖတ်တယ်။ အိမ်မှာ သိမ်းထား တယ်။ ဒါပေမဲ့ ဖေဖေဟာ ဖ၉- ခုနှစ်က ဆုံးသွားတော့ သူ့ခမျာ နောက်အတွဲတွေ ဖတ်မသွားရရှာဘူး"ဟု မျက်ရည်စမ်းနှင့် ပြောသည်။ မိတ်ဆွေ သံအမတ်ကြီး (ဟောင်း) တစ်ဦးကမူ "ခင်ဗျား ဘာဖြစ်လို့ စစ်နှင့် ငြိမ်းချမ်းရေးကို ဘာသာပြန်တာလဲ။ ခင်ဗျားက တော်လ် စတွိုင်းဝါဒီလား"ဟု မေးသည်။ နိုင်ငံခြားသား မိတ်ဆွေ တစ်ဦးကလည်း ကျွန်တော့်ကို အလားတူ မေးခွန်းမျိုး မေးဖူးသည်။

ကျွန်တော်သည် တော်လ်စတွိုင်းဝါဒီ တစ်ဦး မဟုတ်ပေ။ တောလ်စတွိုင်း၏ ဝါဒသည် လူတိုင်းကို မေတ္တာထားရမည်ဟူသောဝါဒ ဖြစ်သည်။ "မကောင်းမှုကို မခုခံနှင့်' ဟူသောဝါဒ ဖြစ်သည်။ တရားသောစစ်နှင့် ယောက် မတရားသော စစ်ကို ခွဲခြားခြင်း မပြုတော့ဘဲ စစ်အားလုံး ကို သိမ်းကျုံးဆန့်ကျင်သော ဝါဒဖြစ်သည်။ ပဒေသရာဇ် စနစ်၏ ဖိနှိပ်မှုတို့ကို မကျေနပ်သော်လည်း ပဒေသရာဇ် ဆန့်ကျင်ရေးကို လူထုမပါဘဲ တစ်ကိုယ်တော် ဆန့်ကျင် သောဝါဒ ဖြစ်သည်။ တော်လ်စတွိုင်းသည် စိတ်ရင်း ကောင်းသော မြေရှင်များက လယ်သမားများကို ဘုံအဖွဲ့ များ ထူထောင်ပေးကာ ဘုံလောက တည်ထောင်လိုသော စိတ်ကူးယဉ် ဆိုရှယ်လစ်ဝါဒ ဖြစ်သည်။ မတ်စ်နှင့် အိန်ဂ် လ်တို့က ၎င်းတို့၏ ကျော်ကြားသော "ကွန်မြူနစ်ပါတီကြေညာစာတန်း"တွင် ဖော်ပြထားသည့် ဆိုရှယ်လစ်ဝါဒ ငါးမျိုးအနက် တစ်မျိုးဖြစ်သော ပဒေသရာဇ် ဆိုရှယ်လစ် ဝါဒတစ်မျိုးဖြစ်သည်။ သမားရိုးကျ ပဒေသရာဇ် လယ်ယာ စိုက်ပျိုးရေးကို ဖက်တွယ်ကာ ခေတ်မီစက်မှု လယ်ယာ စိုက်ပျိုးရေးကို ဆန့်ကျင်သော ဝါဒဖြစ်သည်။ ၎င်း၏ • အဘိဓမ္မာသည် စိတ်ဝါဒ အဘိဓမ္မာ ဖြစ်သည်။ ။

အချို့သော် တော်လ်စတွိုင်းဝါဒီများသည် တော်လ် စတွိုင်း၏ဝါဒအတိုင်း အာဖရိကတိုက်တွင် ကိုလိုနီများ ထူထောင်ကာ လက်တွေ့ စမ်းသပ်ကြည့်ခဲ့ဖူးကြသည်။ သို့ရာတွင် တော်လ်စတွိုင်း၏ဝါဒသည် ခေတ်သစ်စက် မှု အလုပ်သမား လူတန်းစားက ရှေ့ဆောင်လူတန်းစားနေ ရာသို့ ရောက်လျက်ရှိသော ယနေ့ခေတ်နှင့် မသင့်တော် တော့ချေ။

သို့ရာတွင် တော်လ်စတွိုင်းသည် ပဒေသရာဇ်စနစ် ကို ဆန့်ကျင်သည်။ မိမိတွင်ရှိသမျှ စည်းစိမ်ဥစ္စာကို စွန့်လွှတ်သည်။ မိမိစာပေများကို မပိုင်ခင်အားလုံးကို စွန့်လွှတ်သည်။ ၎င်း၏အမြင်၌ ဥစ္စာပစ္စည်းချမ်းသာခြင်း သည် ဒုစရိုက်ဟု မြင်သည်။ လူသည် ခွန်အားစိုက်အလုပ် ကို လုပ်ရမည်။ သူတစ်ပါး ချက်ပြုတ်

ကျွေးသော အစား အစာ၊ သူတစ်ပါးယက်လုပ်ပေးသော အဝတ်အထည်ကို ဝတ်ဆင်ရခြင်းသည် မကောင်းမှုဟု မြင်သည်။ ထို့ကြောင့် ၎င်းကိုယ်တိုင် စပါး စိုက်၊ ၎င်းကိုယ်တိုင် ချက်ပြုတ်၍ စားသည်။ ၎င်းကိုယ်တိုင် အဝတ်အထည်ရက်၊ ၎င်းကိုယ် တိုင် ဖိနပ်ချုပ်၍ ဝတ်ဆင်သည်။ ကျိုကျိုတက်ချမ်းသာ သော မှူးမတ်ကြီးတစ်ဦးက ရှိသမျှ စည်းစိမ်ကို စွန့်ကာ လယ်သမားများနှင့် ဒိုးတူပေါင်ဖက် ဤသို့ နေပြလိုက် သောအခါ ထိုခေတ်တွင် တော်စတွိုင်းသည် လူထူးလူဆန်း ဖြစ်လျက်ရှိသည်။

"တော်လ်စတွိုင်းဟာ တစ်ဖက်မှာ ခရစ်တော်ကို ကိုးကွယ်တဲ့ စိတ်ရှုးပေါက်နေတဲ့ မြေရှင်ကြီးတစ်ဦး ဖြစ် ပြီး အခြားတစ်ဖက်မှာတော့ ပဒေသရာဇ်စနစ်ရဲ့ လူမှု မတရားမှုတွေနဲ့ ရှုးသွပ်မှုတွေကို ပြင်းပြင်းထန်ထန် ဆန့်ကျင်သူကြီး ဖြစ်တယ်။ တစ်ဖက်မှာ ရင်ဘတ်စည် တီး ငိုကြွေးနေတဲ့ ရုရှား ပညာရှိကြီးတစ်ဦးဖြစ်ပြီး အခြားတစ်ဖက်မှာ အရင်းရှင်သွေးစုပ်ခြယ်လှယ်မှု၊ အစိုးရရဲ့ ညှဉ်ပန်းနှိပ်ကွပ်မှု၊ တရားရုံးများနဲ့ အစိုးရအုပ်ချုပ်ရေးဌာန များရဲ့ မတရားမှုတွေကို ဖော်ထုတ်ဖွင့်ချသူ၊ ကျိုကျိုတက် ချမ်းသာသူများနဲ့ ငတ်ပြတ်ဆင်းရဲသူတို့ရဲ့ အကြားမှာရှိတဲ့ ကွာဟချက်ကြီးကို ဖော်ထုတ်ပြသူ ဖြစ်တယ်။ တစ်ဖက်မှာ "မကောင်းမှုကို မခုခံနှင့်"လို့ ကြွေးကြော်ပြီး တစ်ဖက် မှာ ပဒေသရာဇ် လူတန်းစားရဲ့ မျက်နှာဖုံး အမျိုးမျိုးကို ခွာချသူ ဖြစ်သည်။ တော်လ်စတွိုင်းဟာ ဒီလိုပဋိပက္ခတွေ နဲ့ ပြည့်နှက်နေသူ ဖြစ်တဲ့အတွက် အလုပ်သမားလူတန်းစား လှုပ်ရှားမှုနဲ့ ရုရှားတော်လှန်ရေးကို ဘယ်နှယ့်မှ နားလည် နိုင်မှာ မဟုတ်ဘူး။ ဒါဟာလဲ မဆန်းပါဘူး။ အဲဒီတုန်း က ရုရှား လယ်သမားတွေဟာ ဒီအတိုင်းပဲ မြင်နေကြတယ်။ ၁၉၀၅-ခု ရုရှား လယ်သမား ခနရှင် တော်လှန်ရေးဟာ ဒီလိုပဋိပက္ခဖြစ်နေတဲ့အမြင်တွေကြားထဲက ပေါက်ဖွားလာ ခဲ့ရတာ ဖြစ်တယ်။ ဒါ့ကြောင့် ဒီအဓိပ္ပာယ်နဲ့ ပြောရရင် တော်လ်စတွိုင်းဟာ ရုရှားတော်လှန်ရေးရဲ့ ကြေးမုံပဲ " ဖြစ်တယ်"ဟု လီနင်က ပြောခဲ့သည်။

လီနင်က တော်စတွိုင်း၏စာပေကို အောက်ပါ အတိုင်းလည်း အကဲဖြတ်ခဲ့ သည်။

"ပဒေသရာဇ်တွေနဲ့ အရင်းရှင်ရဲ့ ထမ်းပိုးအောက် က လွတ်မြောက်လို့ လူထု တွေဟာ သူတို့ရဲ့ သာယာ ကောင်းမွန်တဲ့ ဘဝကို တည်ဆောက်လာနိုင်တဲ့ တစ်နေ့ မှာ တော်လ်စတွိုင်းရဲ့ စာပေတွေကို လူထုတွေက တန်ဖိုးထား လာကြ၊ အမြတ်တနိုးဖတ်ရှုလာကြလိမ့်မယ်။ ဒါတွင် မကဘူး။ တော်လ်စတွိုင်းဟာ အဲဒီ ခေတ်က အဖိနှိပ်ခံရတဲ့၊ ကျယ်ပြန့်တဲ့ လူတွေရဲ့ ခံစားချက်တွေကို ခွန်အားကောင်း ကောင်းနဲ့ ရေးပြနိုင်တယ်။ အထူးသဖြင့် ၁၉၀၅ ခုနှစ် ပထမ ရုရှားတော်လှန်ရေးရဲ့ အားကောင်းချက် အားနည်း ချက်စတဲ့ ထူးခြားတဲ့ သမိုင်းလက္ခဏာချက်တွေကို သူ့စာ ပေတွေထဲမှာ ထင်ဟပ်ပြနိုင်ခဲ့တယ်။ တော်လ်စတွိုင်းရဲ့ ဝတ္ထုတွေကို လေ့လာခြင်းအားဖြင့် ရုရှား အလုပ်သမား လူတန်းစားဟာ သူတို့ရဲ့ ရန်သူကို ပိုပြီး သိလာလိမ့်မယ်။

တော်လ်စတွိုင်းရဲ့ ဩဝါဒကို လေ့လာခြင်းအားဖြင့် ရုရှား ' ပြည်သူများဟာ လဲ မိမိတို့ရဲ့ ချွတ်ယွင်းချက်တွေကို ပိုပြီး သိလာကြလိမ့်မယ်"

## (၆)

"စစ်နှင့်ငြိမ်းချမ်းရေး" ဝတ္ထုကြီးထဲ၌ တော်လ်စတွိုင်းသည် ၎င်း၏စစ်အဘိဓမ္မာကို တင်ပြခဲ့သည်။ ဤအဘိဓမ္မာကို မင်းသားကလေး အင်ဒရေ၊ စစ်သေနာပတိချုပ် ကူတူ ဇွေဗ်တို့မှ တစ်ဆင့်သာမက တစ်ခါတရံတွင် စာရေးဆရာ အနေဖြင့်လည်း ကြားညှပ်တင်ပြသွားသည်။

၎င်း၏ စစ်အဘိဓမ္မာကို ချုပ်ကြည့်လျှင်

(၁) စစ်ဟူသည် အနိဋ္ဌာရုံ ဖြစ်သည်။ (ဤနေရာ ၌ တော်လ်စတွိုင်းသည် တရားသောစစ်နှင့် မတရားသော စစ်ကို ခွဲခြားခြင်း မပြုတော့။)

(၂) စစ်ဖြစ်လာလျှင် စစ်ပွဲ၏စည်းကမ်း ဥပဒေ များဆိုသည် အဓိပ္ပာယ်မရှိ။ သံ့ပန်းလဲလှယ်ခြင်း၊ သံ့ပန်း ကို ကောင်းစွာ ပြုစုစောင့်ရှောက်ခြင်း၊ စစ်ရပ်စဲရေး အလံထူလာသည့် ရန်သူကို ဖြတ်သန်းခွင့်ပြုခြင်း၊ ဆီးကြို လက်ခံခြင်းတို့သည် အဓိပ္ပာယ်မရှိ။ သံ့ပန်းကို သတ်ရမည်။ ငဲ့ညှာခြင်းမပြုရ။ သို့မှသာ စစ်၏ကြောက်မက်ဖွယ် ကောင်း သောသဘောကို လူတွေ အလေးအနက် ထား လာကြ "မည်။ ထိုသို့ အလေးအနက်ထားလာလျှင် တော်ရုံတန်ရုံ အကြောင်းဖြင့် စစ်တိုက်ကြတော့မည် မဟုတ်။ (ဤအမြင် မှာ စစ်၏ အနိဋ္ဌာရုံကိုမြင်၍ နာကြည်း ရာမှ ပေါ်ထွက်လာ သော စစ်ဆန့်ကျင်ရေးအမြင် ဖြစ်သည်။ ပြင်းထန်ခါးသည်း ၍ ပြောင်းပြန်ခါးသည်း၍ ပြောင်းပြန်မြင်သောအမြင်မျိုး ဖြစ်သည်။)

(၂) လူ၏ ပျော်ရွှင်မှုသည် ဥစ္စာပစ္စည်းအလျှံပယ် ပေါများခြင်း၌ မတည်။ စား ဝတ်နေရေး စသည့်ကိစ္စများ အတွက် အခြေခံလိုအပ်ချက်များ ပြည့်စုံခြင်းအပေါ်၌ တည်သည်။ ရောင့်ရဲကျေနပ်သော စိတ်သာလျှင် ပျော်ရွှင် ချမ်းမြေ့မှုကို ပေး နိုင်သည်။ (ဤနေရာ၌ တော်လ်စတွိုင်း၏ အမြင်တွင် ဗုဒ္ဓ၏အယူဝါဒများ သက်ဝင်လျက် ရှိသည်။)

(၃) လူသည် ခွန်အားစိုက်အလုပ်ကို လုပ်ရမည်။ မိမိစားရန် ဆန်စပါးကို ကိုယ့်ဘာသာကိုယ် စိုက်ရမည်။ မိမိဝတ်ရန် အဝတ်အထည်ကို ကိုယ့်ဘာသာ ကိုယ် ရက် လုပ်ရမည်။ အခြားသူများ၏ ခွန်အားစိုက်အလုပ်ဖြင့် အသက်ရှင်နေ ခြင်းသည် လူမှုမတရားမှုများကို ဖြစ်စေ သည်။ (တော်လ်စတွိုင်းသည် ပဒေသရာဇ် သွေးစုပ်မှုကို ရွံ့မုန်းသည်။ ထိုအခါတွင် ပင်ပန်းကြီးစွာ အလုပ်လုပ်ရ သော မြေကျွန်များ၊ လယ်သမားများကို စာနာသည်။ သို့ရာတွင် တော်လ်စတွိုင်း

သည် သွေးစုပ်ခြယ်လှယ်မှုစနစ် ကို တွန်းလှန်ဖြိုဖျက်ရန် ဆော်သြခြင်းမပြု။ လူတိုင်း ကိုယ့်ထမင်းကိုယ် ချက်စား၍ လူတိုင်း ကိုယ့်အဝတ်ကိုယ် ရက်လုပ်ဝတ်ဆင်ရန် တရားဟောသည်။ ဤသို့ဖြင့် တော်လ်စတွိုင်းသည် အလုပ်တာဝန် ခွဲဝေမှုအားလုံးကို တစ်ချက်တည်း ဖျက်သိမ်းလိုသည်။ လူတန်းစားမဲ့ လူ့အ ဖွဲ့အစည်းကျမှသာ ဖြစ်နိုင်သောအရာကို လူတန်းစား လူ့အဖွဲ့အစည်းတွင် လုပ်ရန် စိတ်ကူးယဉ်လျက် ရှိသည်။)

(၄) လူ့ဘဝသည် ဘာမျှအဓိပ္ပာယ်မရှိ။ သေခြင်း တရားဟူသည့် အင်အားစု၏ ထာဝစဉ် ခြောက်လှန့် စိုးမိုးနေခြင်းကိုသာ ခံရသည့်ဘဝ ဖြစ်သည်။ လူ့ဘဝ၌ ဘာမျှပျော်စရာမရှိ။ ဤသည်ကိုက ၎င်း၏ "ဖွင့်ဟဝန်ခံ ချက်"ဆိုသည့် စာတန်းတွင် အကျယ်တဝင့် ရေးသားခဲ့ သည်။ (တော်လ်စတွိုင်းသည် ဘဝကို အဆိုးဘက်မှသာ မြင်ရာရောက်သည်။ အပျက်ကိုချည်း မြင်လွန်းသည်။

တောလ်စတွိုင်း၏ နိုင်ငံရေးအမြင်ကို ချုပ်ကြည့်လျှင်

(၁) ဇာဘုရင်၏ ငါ့မင်းငါ့ချင်းစနစ်နှင့် မြေရှင် ပဒေသရာဇ်စနစ်တို့သည် မကောင်း၊ ထိုစနစ် များကြောင့် လူတွေ ဒုက္ခပင်လယ်ဝေရသည်။ (တော်လ်စတွိုင်းသည် ၎င်း၏ခေတ်ကို ဤသို့မြင်သော်လည်း ထိုမရားမှုများအား မည်သို့အဆုံးသတ်ရမည်ကို လမ်းညွှန်ခြင်း မပြုနိုင်။ မြေကျွန်များနှင့် လယ်သမားများ၏ ထွက်ရပ်လမ်းကို မပြနိုင်။)

(၂) နိုင်ငံတော်သည် ပြည်သူလူထုအား ဖိနှိပ်သည့် ကိရိယာဖြစ်သည်။ ထို့ကြောင့် နိုင်ငံတော်ကို ဖျက်သိမ်း အပ်သည်။ နိုင်ငံတော်ကို ဖျက်သိမ်းရာတွင် လူတိုင်း စာရိတ္တဗလပြည့်စုံအောင် ကြိုးပမ်းသည့်နည်းဖြင့် ဖျက်သိမ်း သင့်သည်။ လူတွေ စာရိတ္တအရာတွင် ပြည့်စုံလာလျှင် လူတွေကို အုပ်ချုပ်သည့် နိုင်ငံတော်သည်လည်း မလို တော့ဘဲ ဖြစ်လာလိမ့်မည်။ (နိုင်ငံတော်သည် ဖိနှိပ် ရေးကိရိယာ

ဆိုလျှင် မည်သည့်လူတန်းစား၏ နိုင်ငံတော် နည်း။ ပဒေသရာဇ်စနစ် နိုင်ငံတော် လော၊ ပစ္စည်းမဲ့ လူတန်းစား နိုင်ငံတော်လော။ ခေတ်သစ် အလုပ်သမား လူတန်းစားက သာလျှင် နိုင်ငံတော်အား ဖျက်သိမ်းနိုင် ခြင်းကို တော်လ်စတွိုင်း မမြင်ခဲ့ပေ။)

(၃) တော်လ်စတွိုင်းသည် နိုင်ငံရေးကို မယုံ ကြည်သူဖြစ်သည်။ တော်လှန်ရေးကို မယုံကြည်သူ ဖြစ်သည်။ ပြင်သစ်တော်လှန်ရေး၏ ကြွေးကြော်သံဖြစ် သော "လွတ်လပ်ရေး၊ တန်းတူညီမျှရေးနှင့် ညီအစ်ကိုပမာ ချစ်ခင်ရေး"စသော ပဒေသရာဇ်စနစ်ကို ဆန့်ကျင်သည့် ခေတ်ရှင် လူတန်းစား၏ ကြွေးကြော်သံကို မယုံကြည် သူ ဖြစ်သည်။ ,

(၄) တော်လ်စတွိုင်းသည် ပုဂ္ဂလိက ပိုင်ဆိုင်မှုကို ဖျက်သိမ်းလိုသည်။ ("စစ်နှင့် ငြိမ်းချမ်းရေး"တွင် နီကိုလေ နှင့် ပီယာတို့မှ တစ်ဆင့် ဖော်ပြထားသည်။)

(၅) ယဉ်ကျေးမှုသည် ကမ္ဘာဦးက ရှိခဲ့သော လူ ၏ အကောင်းဆုံးသော အရည်အချင်းများကို ဖျက်ဆီးပစ် . သည်။ (ဤသဘောကို ၁၈၅၇ ခုနှစ်တွင် ရေးခဲ့သော "လူစန်း´အမည်ရှိဝတ္ထုတိုထဲ၌ ဖော်ပြထားသည်။ တော်လ် စတွိုင်းသည် သမိုင်း၏ ဖြစ်ပေါ်တိုးတက်မှုကို ဆန့်ကျင်သူ ဖြစ်သည်။)

(၆) လူကို ဦးဆောင်နေသောအရာသည် 'ကမ္ဘာ လုံးဆိုင်ရာ ထာဝရ ဝိညာဉ်တော်"ဖြစ်သည်။ နိုင်ငံရေး ဘောဂဗေဒသည် သိပ္ပံပညာ အတုအယောင်တစ်မျိုး ဖြစ်သည်။ အင်္ဂလန်လို `တိုင်းပြည်တစ်ပြည်မျိုး၌သာ ခြွင်းချက်အဖြစ် ရှိအပ်သော ပညာရပ်ဖြစ်သည်။ (ဤသ ဘောကို ၁၉၀၀ ပြည့်နှစ်တွင် ရေးသော ကျွန်ုပ်တို့ ခေတ် ကျွန်စနစ်"ဟူသော စာတန်းတွင် တွေ့နိုင်သည်။ ဤအမြင် သည်လည်း တော်လ်စတွိုင်း၏ ခေတ်နောက်ပြန်ဆွဲ အမြင်တစ်ရပ် ဖြစ်သည်။)

(၇) ရာဇဝင်ဆရာတို့က လူ့လောက ဖြစ်ပေါ် တိုးတက်မှု နိယာမတရားများ ရှိသည်ဟု မြင်သည်။

တော်လ်စတွိုင်းက လူ့လောကဖြစ်ပေါ်တိုးတက်မှုတရား ဟူသည်မရှိ။ အရှေ့တိုင်းမှ လူမျိုးများ ခေတ်နောက်ကျ လျက်ရှိခြင်းကို ကြည့်လျှင် ဤအချက်ကို သိနိုင်သည်ဟု ယူဆသည်။ (ဤသဘောကို ၁၈၆၂ ခုနှစ်တွင် ရေးသော "ပညာသင်ကြားရေး၏ တိုးတက်မှုနှင့် အဓိပ္ပာယ်"ဟူသော စာတန်းတွင် တွေ့ နိုင်သည်။ ဤအဆိုသည် သမိုင်း၏ ဖြစ်ပေါ်တိုးတက်မှုကို ငြင်းဆိုရာ ရောက်သည်။ လူမျိုး အားလုံး တပြေးညီစွာ ဖြစ်ပေါ်တိုးတက်ရမည်ဟု ဆိုရာ ရောက်သည်။ ။

(၈) တက္ကသိုလ်များသည် လူထုအတွက် ဘာမျှ အသုံးမဝင်သော၊ စိတ်နောက်ကျုးဖွယ်ကောင်းသော၊ မသန် စွမ်းသော အိုနာကျိုးကန်း လစ်ဘရယ် ပညာတတ်များကို သာ မွေးထုတ်ပေးသည်။ ("ပညာသင်ကြားရေး၏ တိုးတက်မှုနှင့် အဓိပ္ပာယ်"ဟူသော ကျမ်းတွင် ရေးခဲ့ သည်။ မည်သို့သော တက္ကသိုလ်များနည်း။ ခနရှင် တက္ကသိုလ်များလော၊ လုပ်သား တက္ကသိုလ်များလော၊ တက္ကသိုလ် အားလုံးလော။ ။

(၉) အမျိုးသမီးများ၏ လွတ်မြောက်ရေးသည် ကောလိပ်ကျောင်းများ၊ ပါလီမန် လွှတ်တော်များထဲတွင် မရှိ။ အိပ်ခန်းထဲမှသာ ရှိသည်။ "ကရုဇာ- ဆိုဗာတာ"ဝတ္ထုတွင် ဤသဘောကို တွေ့နိုင်သည်။ အမျိုးသမီး များ၏ လွတ်မြောက်ရေးအတွက် ရုပ်ပတ်ဝန်းကျင်ကို ဖန်တီးပေးစရာမလို။ စိတ်သာ အဓိကဟု ဆိုရာရောက် သည်။ စိတ်ဝါဒတစ်မျိုး ဖြစ်သည်။ ။

တော်လ်စတွိုင်း၏ ရာဇဝင်အမြင်ကို ချုပ်ကြည့်လျှင်

(၁) ရာဇဝင်အဖြစ်အပျက်များသည် ဘုရားသခင် အလိုတော်အရ ပေါ်ပေါက်လာခြင်း ကောင်းများကြောင့်လည်း ပေါ်ပေါလ်လာခြင်း မဟုတ်။ အဖြစ်အပျက်များထဲတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ဆောင် ရွက်သူများ၊ ပြည်သူများကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်သည်။ (ဤအချက်တွင် မတ်စ်၏သမိုင်းရုပ်ဝါဒနှင့် နီးစပ်သည်။)

(၂) သို့ရာတွင် ရာဇဝင်အဖြစ်အပျက်များထဲတွင် ' ပါဝင်သောပြည်သူများသည် သိစိတ်ဖြင့်ပါဝင်ခြင်း မဟုတ်။

သိစိတ်မရှိဘဲ ပါဝင်ခြင်း ဖြစ်သည်။ မရှောင်မလွှဲသာသော အကြောင်းတရားများကြောင့် သိစိတ်မရှိဘဲ အလိုအ လျောက် ပါဝင်လာကြခြင်း ဖြစ်သည်။ (မတ်ခ်စ်ဝါဒသမိုင်း ကို ပြည်သူက ဖန်တီးသည်။ သိစိတ်ဖြင့် သမိုင်းကို ဖန်တီးသည်ဟု ယူဆသည်။ ရုပ်ဝါဒ ဖြစ်သည်။

တောလ်စတွိုင်း၏ ဘာသာရေး အယူအဆကို ချုပ်ကြည့်လျှင် ...၊

(၁) ဘာသာတရားဟူသည် ယုံကြည်ခြင်းတရား ဖြစ်သည်။ ယုံကြည်ခြင်းတရားသည် လူ၏ ဆင်ခြင် တရားနှင့် ဆန့်ကျင်ဘက်ဖြစ်သည်။ ယုံကြည်ခြင်းတရား သည် ရင်ထဲ နှလုံးထဲတွင် ကိန်းဝပ်သောအရာ ဖြစ်သည်။ ဆင်ခြင်တုံတရားသည် ဦးနှောက်တွင် ကိန်းဝပ်သည်။ သတ္တ လောက၊ ဩကာသလောက၊ သင်္ခါရလောက စသည်တို့သည် ဘုရားသခင်၏ ဖန်ဆင်းချက်ဟု ဘာသာ တရားက ယူဆသည်။ သို့ရာတွင် ဆင်ခြင်တုံတရားက မူ မူလအကြောင်းတရားကို ကျွန်ုပ်တို့ ရှာမတွေ့နိုင်။ ရှာ၍ မတွေ့နိုင်သောအခါ လူသည် ဆင်ခြင်တုံတရားကို စွန့်ကာ ယုံကြည်ခြင်း တရားနောက်သို့ လိုက်သွားရသည် ဟု တောလ်စတွိုင်းက ယူဆသည်။ ။

(၂) တော်လ်စတွိုင်းသည် ဤအယူအဆဖြင့် ဘာ သာတရားကို စွန့်ပယ်သည်။ သို့ရာတွင် ဆင်ခြင်တုံတရား သည် အဆုံးစွန်သော မူလအကြောင်းတရားကို ရှာ မတွေ့နိုင် တော့သည့်အတွက် (ယုံသည်၊ မယုံသည်ကို အပထား၍) ဘာသာတရားကိုသာ လက်ခံရတော့မည်ဟု ၎င်းက ယူဆသည်။

(၃) တောလ်စတွိုင်းသည် ရုရှားခရစ်ယာန် သာသ နာ၏ အပေါ်ယံ အဆောင်အယောင်တို့ကို ဆန့်ကျင်သည်။ ထို့ကြောင့် ၎င်းအား ရုရှားခရစ်ယာန် သာသနာ၏ ဝိုင်း ပယ်ခြင်း ခံရသည်။ ၎င်းက ဆုတောင်းခြင်း၊ ဝတ်ပြုခြင်း စသည့် ကိစ္စတို့သည် အဓိပ္ပာယ်မရှိဟု ယူဆသည်။

(၇)

၁၉၇၂- ခုနှစ် နွေဦး၊ . အကျဉ်းထောင်မှ ကျွန်တော် လွတ်လာပြီးနောက် မိတ်ဆွေတစ်ဦးနှင့် တွေ့သည်။ သူက ကျွန်တော့် "စစ်နှင့် ငြိမ်းချမ်းရေး"ဝတ္ထု ဒုတိယနိဂုံးကို ဆွေးနွေးသည်။

တောလ်စတွိုင်းသည် အခြားဝတ္ထုများ၊ ကျမ်းများတွင် လည်းကောင်း၊ "စစ်နှင့်ငြိမ်းချမ်းရေး"ထဲတွင် လည်းကောင်း ၎င်း၏အယူအဆများကို ဆွေးနွေးတင်ပြသွားသည်။ သို့ရာ တွင် အားရကျေနပ်သေးဟန် မတူ။ "စစ်နှင့်ငြိမ်းချမ်းရေး" ဇာတ်လမ်းဆုံးသွားသောအခါ "ဒုတိယနိဂုံး"ဟု ခေါင်းစဉ် . တပ်ကာ ၎င်း၏ အယူအဆများကို ထပ်၍ တင်ပြပြန် သည်။ ကျွန်တော့် မိတ်ဆွေသည် ထို "ဒုတိယနိဂုံး"ကို ဆွေးနွေးခြင်း ဖြစ်သည်။

""ဒုတိယ နိဂုံး"ကတော့ တော်လ်စတွိုင်း အဘိဓမ္မာ ရဲ့ အချုပ်ပါပဲ။ သူက ရာဇဝင်ဆိုတာ ဘာလဲ။ အာဏာ ဆိုတာ ဘာလဲ။ ရာဇဝင် အဖြစ်အပျက်တွေ ဘာ

ကြောင့် ပေါ်ပေါက်လာသလဲဆိုတဲ့ ပြဿနာကို ဆွေးနွေးသွားတာ ပဲ။ သူက ရာဇဝင်ဆိုတာ လူမျိုးတွေရဲ့ ဘဝ၊ ပြည်သူတွေ ရဲ့ ဘဝကို ရေးခြယ်ပြတာလို့ ဆို တယ်။ ဒီနေရာမှာ တော်လ်စတွိုင်းရဲ့ ရာဇဝင်အမြင်ဟာ ခေတ်မီတယ်။ ( သမိုင်း ရုပ်ဝါဒနဲ့ ကိုက်ညီတယ်လို့ ကျွန်တော် ထင်တယ်။ တော်လ်စတွိုင်းဟာ သူ့ ရှေ့ တွင် ရာဇဝင်ဆရာတွေ အား လုံးကို တိုက်ခိုက်ဝေဖန်ထားတယ်။ သူ့ရှေ့က ရာဇဝင် ဆရာကြီးတစ်ဦးဖြစ်ပြီး "ရောမ လက်နက်နိုင်ငံကြီး ပျက် စီးခြင်း" ဆိုတဲ့ ရာဇဝင်ကျမ်းကြီးကို ရေးခဲ့တဲ့ ဂစ်ဘွန်က ရာဇဝင်ဆိုတာ လူတွေရဲ့ မိုက်မဲမှုတွေ၊ လိမ်ညာမှုတွေ၊ ရာဇဝတ်မှုတွေကို မှတ်တမ်းတင်ထားတဲ့ မှတ်ပုံတင် စာအုပ်ကြီးပဲ လို့ ပြောခဲ့ဖူးတယ်။ တော်လ်စတွိုင်းကတော့ ဒီလို တစ်ဖက်သတ် မမြင်ဘူး။ ရာဇဝင်ဆိုတာဟာ လူမျိုးတွေ၊ ပြည်သူတွေရဲ့ ဘဝ အဆိုးအကောင်းအားလုံး ကို ဖော်ပြတဲ့အရာဖြစ်တယ်လို့ ယူဆတယ်။ ဂစ်ဘွန်တို့ ရဲ့ ရာဇဝင်ကျမ်းတွေမှာ ဘုရင်တွေ ဧကရာဇ်တွေ အကြောင်းလောက်ပဲ ပါတယ်။ တော်လ်စတွိုင်းက ဒါကို မကျေနပ်ဘူး။ ရာဇဝင်ဆိုတာ လူစွမ်းကောင်းတွေကြောင့် ဖြစ်တာမဟုတ်ဘူး။ လူစွမ်းကောင်းဆိုတာလဲ မရှိဘူးလို့ ယူဆတယ်"

"ဒါဖြင့်ရင် ရာဇဝင်မှာ လူပုဂ္ဂိုလ်ရဲ့ အခန်းကို တော်လ်စတွိုင်းက ပစ်ပယ် သမား"

ကျွန်တော့်မိတ်ဆွေက မေးသည်။

"လူပုဂ္ဂိုလ်ရဲ့ အခန်းကို မပစ်ပယ်ပါဘူး။ ရာဇဝင် `အဖြစ်အပျက်ကြီးတွေ ပေါ်လာတိုင်း အဲဒီရာဇဝင် အဖြစ် အပျက်ကြီးတွေရဲ့ ထိပ်မှာ ခေါင်းဆောင်တစ် ယောက် ရှိတတ်တယ်။ ဒါပေမဲ့ ဒီလိုရှိတဲ့အတွက် ရာဇဝင်အဖြစ် အပျက်ဟာ အဲဒီ ခေါင်းဆောင်ကြောင့် ဖြစ်လာတာ မဟုတ် ဘူး။ ရာဇဝင် အဖြစ်အပျက်ကြောင့် သာ အဲဒီခေါင်းဆောင် ဆိုသူ ပေါ်လာရတယ်ဆိုတဲ့သဘောပါ။"

“တော်လ်စတွိုင်းက ရာဇဝင်အဖြစ်အပျက်တွေဟာ အကြောင်းတရားမရှိဘဲ ဖြစ်လာတာမဟုတ်ဘူး။ အကြောင်း တရားကြောင့်သာ ဖြစ်လာတာ။ တစ်ခါ ဒီ အကြောင်း တရားရဲ့ အကျိုးဆက်ဟာ ဒုတိယ ကွင်းဆက်တစ်ခုမှာ အကြောင်းတရားဖြစ်သွားတယ်။ ဒါ့ကြောင့် အကြောင်း ကြောင့် အကျိုးဖြစ် အဲ့ဒီ အကျိုးဆက်ဟာ နောက်အကျိုး ဆက်တစ်ခုရဲ့ အကြောင်းတရား ပြန်ဖြစ်တယ်။ ဒီ လိုနဲ့ သံသရာလည်နေတယ်လို့ ဆိုတယ်။ ဒါဟာ ဗုဒ္ဓဘာသာက လက်ခံတဲ့ ပဋိစ္စ သမုပ္ပါဒ်သဘော် မဟုတ်ဘူးလား”

“တူမလား မပြောနိုင်ဘူး။ ဗုဒ္ဓဘာသာတွေ လက်ခံ တဲ့ ပဋိစ္စသမုပ္ပါဒ် တရားမှာ အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်၊ သင်္ခါရကြောင့် ဝိညာဉ်ဖြစ်၊ ဝိညာဉ်ကြောင့် နာမရူပဖြစ်၊ နာမရူပကြောင့် သဠာယတနဖြစ်၊ သဠာယတနကြောင့် ဖဿဖြစ်၊ ဖဿကြောင့် ဝေဒနာဖြစ်၊ ဝေဒနာကြောင့် တဏှာဖြစ်၊ တဏှာကြောင့် ဥပါဒါန် ဖြစ်၊ ဥပါဒါန်ကြောင့် ဘဝဖြစ်၊ ဘာကြောင့် ဇာတိဖြစ်။ ဇာတိကြောင့် ဇာရာမရ ဏ ဖြစ် စသည်ဖြင့် ကွင်းဆက်တွေ ရှိတယ်။ အချုပ်မှာ - အဝိဇ္ဇာပဲ။ အဝိဇ္ဇာကို ပယ်နိုင် ရင် ဘဝ ပြန်မဖြစ်တော့ ဘူး။ သံသရာက လွတ်မြောက်သွားပြီ။ ဒါ့ကြောင့် ပဋိစ္စ သမုပ္ပာဒ် စက်ဝိုင်းရဲ့ အစဟာ အဝိဇ္ဇာပဲ။ ဒါပေမဲ့ တောလ် စတွိုင်းကတော့ ဖြစ် ခြင်းဟာ အကြောင်းတရားများစွာ ရှိတယ်။ အကြောင်းရင်းတကာတို့၏ မူလ အကြောင်း တရားကြီးကို ကျွန်တော်တို့ မသိနိုင်၊ မမြင်နိုင်ဘူး။ ဒါ့ကြောင့် ဒါဟာ နိယာမတရားကြောင့် ဖြစ်လာတာပဲ လို့ပဲ ကောက်ချက်ချလိုက်တယ်” ။

“ဒီလိုဆိုရင် တောလ်စတွိုင်းဟာ အကြွင်းမဲ့တရားကို လိုက်ရှာနေတာပေါ့ “

“ကျွန်တော်တော့ ဒီလိုပဲ ပြောချင်တယ်။ ကမ္ဘာကြီး ရဲ့ အစကို မသိနိုင်သလို အဆုံးကိုလည်း မသိနိုင်ဘူး။ ဒါပေမဲ့ တောလ်စတွိုင်းက ကမ္ဘာကြီးရဲ့ မူလအကျ ဆုံးသော အစကို လိုက်ရှာနေတယ်။ ဒီလို လိုက်ရှာရင်းနဲ့ မတွေ့တဲ့ အခါကျတော့

ဒါတွေဟာ နိယာမပဲလို့ ကျုပ်လည်း မသိ နိုင်ဘူး။ ဘယ်သူမှလည်း မသိနိုင်ဘူးလို့ နိဂုံးချုပ်လိုက် တယ်"

"တော်လ်စတွိုင်းဟာ "ဒုတိယနိဂုံး"မှာ လိုအပ်ခြင်း နိယာမနဲ့ လူရဲ့ လွတ်လပ်မှုကိုလဲ ဆွေးနွေးသွားသေးတယ် မဟုတ်လား"

"ဟုတ်တယ်။ တော်လ်စတွိုင်းဟာ အဖြစ်အပျက် တွေရဲ့ အစကို ရှာမရနိုင်တဲ့အခါကျတော့ နိယာမတရားအရ ဖြစ်ရတာပဲ။ ဒီလို ဖြစ်ရတာသည်ပင် နိယာမတရားပဲလို့ ပြောတယ်။ ဒါပေမဲ့ နိယာမတရားတစ်ခုတည်းနဲ့ သူ ကျေနပ် ပြန်ဟန် မတူဘူး။ ဒီတော့ လူဟာ နိယာမတရား ကိုချည်း လိုက်နေရတာ မဟုတ်ဘူး။ လွတ်လပ်မှုလဲ ' ရှိတယ်။ နိယာမအလိုချည်းလိုက်ရင် ရုပ်ချည်းပဲ ရှိနေရမယ်။ လွတ်လပ်တဲ့ စိတ်အလိုလိုက်နေရင်လဲ လောကကြီး မှာ စိတ်ချည်းပဲ ဖြစ်နေလိမ့်မယ်။ ဒါ့ကြောင့် လွတ်လပ်မှု နဲ့ နိယာမတရားဟာ ဒွန်တွဲနေတယ်။ တစ်နည်း ပြောရရင် စိတ်နဲ့ ရုပ်ဟာ ဒွန်တွဲနေတယ်ဆိုတယ်"

"ရုပ်နဲ့စိတ် သို့မဟုတ် နိယာမနဲ့ လွတ်လပ်လိုတဲ့ ဆန္ဒမှာ ဘယ်သူက ရှေ့ဆောင်တယ်ဆိုတာ တောလ်စတွိုင်း က မပြောဘူး"

"မပြောဘူး ခင်ဗျ၊ ဒွန်တွဲနေတယ်လို့ ပြောတယ်"

"ဒါဖြင့် တောလ်စတွိုင်းရဲ့ ဝါဒဟာ ရုပ်နာမ်ဒွန်တွဲ ဝါဒလို့ မဆိုနိုင်ဘူးလား"

"ဆိုနိုင်လိမ့်မယ်လို့ ကျွန်တော်ထင်တယ်။ ရုပ်ဝါဒ သမားတွေကတော့ ရုပ်နဲ့ စိတ် ရှိတယ်။ ဒါပေမဲ့ ရုပ်က ဦးဆောင်တယ်လို့ ဆိုတယ်။ စိတ်ဝါဒီတွေကတော့ ရုပ်နဲ့ စိတ် ရှိတယ်။ စိတ်က ဦးဆောင်တယ်လို့ ဆိုတယ်။ ရုပ် ဝါဒက လူဟာ ပတ်ဝန်းကျင်ရဲ့ ဩဇာကို နာခံရတယ်။ နိယာမရဲ့ ဩဇာကို နာခံရတယ်။ အဲဒီ နိယာမတရားကို ဖျက်သိမ်းလို့ မရဘူး။ ဒါပေမဲ့ နိယာမတရားကို ခုခံနိုင် တယ်။

ပြောင်းလဲပစ်နိုင်တယ်။ မိမိအကျိုးအတွက် အသုံး ချနိုင်တယ်။ အဲ့ဒီအတိုင်းအတာ အရ လူဟာ လွတ်လပ် တယ်လို့ ခံယူနိုင်တယ်။ ဥပမာ ရာသီဥတုဟာ နိယာမ ( တစ်ပါးပဲ။ လူဟာ ဆောင်းရာသီကို နွေရာသီဖြစ်အောင် ( မလုပ်နိုင်ဘူး။ ဖျက်ဆီး မပစ်နိုင်ဘူး။ ကမ္ဘာဦးလူသားဟာ ဆောင်းရာသီဒဏ်ကြောင့် သွေးခဲသေရတယ်။ ဒါပေမဲ့ အသိဉာဏ် ရင့်သန်လာတဲ့အခါကျတော့ အဝတ်အထည်၊ ( အနွေးထည်၊ မီးလှုပ်စစ် စသည်တို့နဲ့ အအေးဒဏ်ကို ခုခံနိုင်လာတယ်။ ဒါဟာ လွတ်လပ်လာ တာပဲလို့ ယူဆ  တယ။ အနဂလက 'လွတ်လပ်မှုဆိုတာဟာ နိယာမ တရားကို သိ နားလည်ခြင်းပဲ”လို့ သူရဲ့ ကျော်ကြားတဲ့ ဒူရင်းဆန့်ကျင်ရေးကျမ်းမှာ ပြောခဲ့တယ်။ လူဟာ နိယာမ တရားတွေရဲ့ စိုးမိုးမှုကို ခံရတယ်။ အဲဒီနိယာမတရားတွေ ကို နားလည်ပြီး မိမိအတွက် အသုံးချနိုင်တဲ့ အတိုင်းအတာ အထိ လူဟာ လွတ်လပ် တယ်လို့ အိန်ဂဲလ်က ပြောတယ်။ အိန်ဂဲလ် ပြောတာဟာ နိယာမတရားဟာ လူကို လွှမ်းမိုး မှာပဲလို့ ဆိုတယ်။ အဲဒါ ရုပ်ဝါဒရဲ့ အမြင်ပဲ”

“ဒါဖြင့် တောလ်စတွိုင်းဟာ စိတ်ဝါဒီပေါ့”

“ဒါတော့ ခင်ဗျားမြင်ချင်သလို မြင်နိုင်ပါတယ်။ ကျွန်တော်ကတော့ တောလ် စတွိုင်းဟာ တကယ့် စိတ်ဝါဒီ ကြီးပဲ။ သူ့အယူအဆထဲမှာ အစွန်းရောက်တဲ့ ရုပ် ကြမ်း ဝါဒတွေ ပါကောင်းပါပေမယ့် ချုပ်လိုက်ရင် စိတ်ဝါဒီပဲ။ တောလ်စတွိုင်းရဲ့ အယူအဆထဲမှာပါတဲ့ အဟိံသဝါဒဆို တဲ့ အကြမ်းမဖက်ရေးဝါဒ၊ ထာဝရဝိဉာဉ် တော်၊ စာရိတ္တအရ ပြည့်စုံသန့်စင်ရေး၊ လူအားလုံးအပေါ်မှာ မေတ္တာထားရေး၊ ကံ ယုံဝါဒ၊ အဆိုးမြင်ဝါဒ စတဲ့အရာတွေဟာ စိတ်ဝါဒရဲ့ လက္ခဏာချက်တွေပဲ။ ခင်ဗျားကို တစ်ခုတော့ မေတ္တာရပ် ချင်ပါတယ်။ ကျွန်တော်ဟာ တောလ်စတွိုင်း ဝါဒကို မယုံကြည်သော်လဲ “စစ်နှင့်ငြိမ်းချမ်းရေး”ဟာ ကျွန်တော်တို့ စာပေမှာ ရှိ သင့်တယ်။ ကျွန်တော်တို့ဟာ တောလ်စတွိုင်းရဲ့  စာပေတွေထဲက သင်ခန်းစာယူ သင့်တဲ့ အချက်တွေ ရှိ တယ်ထင်လို့ ကျွန်တော် မြန်မာပြန်ပါတယ်။ ချွတ်ယွင်း

ချက်တွေ ရှိကောင်းရှိပါလိမ့်မယ်။ မြန်မာပြန်မှာ ချွတ်ယွင်း ချက်တွေ ရှိခဲ့ရင် ဒါဟာ တောလ်စတွိုင်းနဲ့ အင်္ဂလိပ်ဘာ သာပြန်သူရဲ့ တာဝန်မဟုတ်တောလ်စတွိုင်းနဲ့ အင်္ဂလိပ် ဘာသာပြန်သူရဲ့ တာဝန်မဟုတ်ဘဲ ကျွန်တော့်တာဝန်သာ ဖြစ်ပါတယ်။ ချီးကျူးစရာရှိရင် တောလ်စတွိုင်းနဲ့ အင်္ဂလိပ် ဘာသာပြန်သူရဲ့ တာဝန်မဟုတ်ဘဲ ကျွန်တော့်တာဝန်သာ ဖြစ်ပါတယ်။ ချီးကျူးစရာရှိရင် တောလ်စတွိုင်းနဲ့ အင်္ဂလိပ် ဘာသာပြန်သူကို ချီးကျူးပြီး အပြစ်တင်စရာရှိရင် ကျွန်တော့်ကိုပဲ အပြစ်တင်ဖို့ တောင်းပန်လိုပါတယ်။”

ကျွန်တော်တို့သည် ကျမ်းအစောင်စောင်ဖွဲ့၍ ဋီကာ ချဲ့ရသော တောလ်စတွိုင်း၏ အယူအဆကို အချိန် ( အနည်းငယ်ဖြင့် ဆွေးနွေးစရာများစွာ ကျန်ပါသေးသည်။ သို့ရာတွင် အချိန်မရှိတော့ပြီ။ ။ အပြင်၌ ဆည်းဆာရောင် သန်းစပြုလေပြီ။

မြသန်းတင့်

၁၃၃၄ ခု တော်သလင်းလဆုတ် ၄ ရက်

၁၉၇၂ ခု စက်တင်ဘာလ ၂၆ ရက်

# Notes

[←1]

ရုရှားထုံးစံ၌ မောင်လှယ်နှမလှယ် လက်ထပ်ခြင်းမပြုရ။ နာတာရှာနှင့် မင်းသားကလေး အင်ဒရေတို့ လက်ထပ်ဖြစ်ခဲ့လျှင် နီကိုလေနှင့် မေရီတို့ လက်ထပ်ခြင်းမပြုနိုင်။

[←2]

ရှုရှားထုံးစံ၌ ဧည့်သည်တစ်ဦးအား ပေါင်မုန့်နှင့်ဆား လက်ဆောင်ပေးလေ့ရှိသည်။ အချို့က ကိတ်မုန့်နှင့် သကြား လက်ဆောင် ပေးလေ့ရှိသည်။

[←3]

ပရပ်ရှားပြည် ဖရိလင်းတိုက်ပွဲ၌ ရုရှားစစ်တပ်ကို ခေါင်းဆောင်တိုက်ခဲ့သူမှာ ဗိုလ်ချုပ်ဘင်နစ်ဆန်ဖြစ်၏။ ဗိုလ်ချုပ်ဘင်နစ်ဆန်သည် ရန်သူနယ်မြေ၏အနီးတွင် တပ်အနေအထားများကို ပြောင်းရွှေ့ခဲ့ရာ ရန်သူကြိုတင် သိသွား၍ လက်ချက်ဦးသွားသဖြင့် တပ်ဖျက်ဆုတ်ခွာခဲ့ရသည်။

[←4]

ရှုရှားသာသနာပိုင်များ၏ ဥပဒေအရ မောင်လယ် နှမလယ် လက်ထပ်ခြင်း မပြုရချေ။ ထို့ကြောင့် အင်ဒရေနှင့် နာတာရှာ လက်ထပ်ဖြစ်လျှင်နီကိုလေနှင့် အင်ဒရေ၏ အစ်မ မင်းသမီးကလေး မေရီတို့ လက်ထပ်၍ မဖြစ်တော့ချေ။ သို့ဆိုလျှင် မြို့စားကြီး ရော့စတော့ဗ် အိမ်ထောင်စုအဖို့ကြွေးမြီများကို ပြန်ဆပ်ရန် များစွာ ခက်ကဲပေလိမ့်မည်။ မြို့စားကတော်ကြီးက ဤသို့ ရည်ရွယ်၍ တွေးလိုက်ခြင်း ဖြစ်သည်။

[←5]

မြို့စားဩလေဘ့ဗ်ပြောသည့် ရွှေစတစ်ရာဆိုသည်မှာ ရူဘဲဒင်္ဂါးသုံးပြား၊ အင်္ဂလိပ်ငွေနှင့် ၁ဂသီ လင်ခန့်သာ ရှိသည်။